إِنَّا نَحْنُ نَزَّلْنَا الذِّكْرَ وَإِنَّا لَهُ لَحَافِظُونَ




မွန်မြတ်သည့် ဝတ်ကျောင်းတော်နှစ်ပါးအားစောင့်ကြပ်တော်မူသော

**ဘုရင်မင်းမြတ် ဖဟ်ဒ် ဘင်(န်) အဗ္ဗဒွလ်အဇီးဇ် အာလ်စအူဒ်**

**( စအူဒီ အာရေဗျ နိုင်ငံ ဘုရင်မင်းမြတ်)** ၏

အမိန့်တော်အရ ဤ ကုရ်အာန် ကျမ်းမြတ်နှင့် ၎င်း၏ ဘာသာပြန်ကို ပုံနှိပ်ခြင်းဖြစ်သည်။


تشرّف بالأمر بطباعة هذا المصحف الشريف وترجمة معانيه

خادم الحرمين الشريفين الملك فهد بن عبد العزيز آل سعود

ملك المملكة العربية السعودية

هٰذا المُصْحَفُ الشَّرِيفُ وَتَرْجَمَةُ مَعَانِيهِ

هَدِيَّةٌ مِن خَادِمِ الحَرَمَيْنِ الشَّرِيفَيْنِ المَلِكِ فَهْدِ بْنِ عَبْدِ العَزِيزِ آل سُعُود




مُجَمَّعُ المَلِكِ فَهْدٍ لِطِبَاعَةِ المُصْحَفِ الشَّرِيفِ

ဤ ကုရ်အာန်ကျမ်းမြတ် (မြန်မာဘာသာပြန်)ကို ဆော်ဒီ အာရေးဗျ
နိုင်ငံရှိ မွန်မြတ်သည့် ဝတ်ကျောင်းတော် နှစ်ပါး အား စောင့်ကြပ်တော်
မူသည့် ဘုရင်မင်းမြတ် ''ဖဟ်ဒ်ဘင်(န်)အဗ္ဗဒွလ် အဇီးဇ် အာလ်စအူဒ်''
(ဟာဖိဇဟုလ္လာဟ်)မှ မေတ္တာလက်ဆောင်အဖြစ် ပေးအပ်ပါသည်။




ဖဟဒ်ဘုရင် ကုရ်အာန် ကျမ်းမြတ် ပုံနှိပ်တိုက်

بســـــــــم الله الرحمن الرحيم

## مقدمة

بقلم معالي الدكتور : عبد الله بن عبد المحسن التركي
وزير الشؤون الإسلامية والأوقاف والدعوة والإرشاد
المشرف العام على المجمع

الحمد لله رب العالمين ، القائل في كتابه الكريم :

﴿ ... قَدْ جَآءَكُم مِّنَ ٱللَّهِ نُورٌ وَكِتَـٰبٌ مُّبِينٌ ﴾

والصلاة والسلام على أشرف الأنبياء والمرسلين، نبينا محمد، القائل :

« خيركم من تعلّم القرآن وعلّمه » .

أما بعد :

فإنفاذاً لتوجيهات خادم الحرمين الشريفين، الملك فهد بن عبد العزيز آل سعود، حفظه الله، بالعناية بكتاب الله، والعمل على تيسير نشره، وتوزيعه بين المسلمين، في مشارق الأرض ومغاربها، وتفسيره، وترجمة معانيه إلى مختلف لغات العالم .

وإيماناً من وزارة الشؤون الإسلامية والأوقاف والدعوة والإرشاد بالمملكة العربية السعودية بأهمية ترجمة معاني القرآن الكريم إلى جميع لغات العالم المهمة، تسهيلاً لفهمه على المسلمين الناطقين بغير العربية، وتحقيقاً للبلاغ المأمور به في قوله صلى الله عليه وسلم : « بَلِّغُوا عني ولو آية » .

وخدمة لإخواننا الناطقين باللغة البورمية، يطيب لمجمع الملك فهد لطباعة المصحف الشريف بالمدينة المنورة أن يقدم للقارئ الكريم هذه الترجمة البورمية التي قام بها مجموعة من العلماء، وراجعها من قبل المجمع الشيخ عبد الحميد المظاهري الندوي والشيخ عبد الخالق عبد الولي .

وننتهز هذه الفرصة لنشكر صاحبة حق هذه الترجمة « المؤسسة المركزية للصندوق الإسلامي » في مينمار لسماحها للمجمع بإعادة طبعها .

ونحمد الله سبحانه وتعالى أن وفق لإنجاز هذا العمل العظيم الذي نرجو أن يكون خالصاً لوجهه الكريم، وأن ينفع به الناس .

إننا لندرك أن ترجمة معاني القرآن الكريم ، مهما بلغت دقتها ، فإنها ستكون قاصرة عن أداء المعاني العظيمة التي يحويها النص القرآني المعجز،وأن المعاني التي تؤديها الترجمة إنما هي حصيلة ما بلغه علم المترجم في فهم كتاب الله الكريم، وأنه يعتريها ما يعتري عمل البشر كلّه من خطأ ونقص .

ومن ثم نرجو من كل قارئ لهذه الترجمة أن يوافي مجمع الملك فهد لطباعة المصحف الشريف بالمدينة النبوية، بما قد يجده فيها من خطأ أو نقص أو زيادة، للاستفادة من هذه الملاحظات في الطبعات القادمة إن شاء الله .

والله الموفق ، وهو الهادي إلى سواء السبيل .

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

# စကားချီး

الحمد لله رب العالمين ، القائل في كتابه الكريم : ﴿ قَدْ جَآءَكُم مِّنَ ٱللَّهِ نُورٌ وَكِتَٰبٌ مُّبِينٌ ﴾

والصلاة والسلام على أشرف الأنبياء والمرسلين ، نبينا محمد ، القائل :

«خيركُم مَنْ تعلَّم القرآن وعلَّمه» .

မွန်မြတ်သည့် ဝတ်ကျောင်းတော်နှစ်ပါး အားစောင့်ကြပ်တော်မူသော ဘုရင်မင်းမြတ် "ဖဟဒ်ဘင်(န်) အဗ္ဗဒွလ် အဇီးဇ်အာလ်စအူဒ်'(ဟဖိဇဟုလ္လာဟ်)၏ညွှန်ကြားချက်အား အတည်ပြုကာ၊ ကုရ်အာန်ကျမ်းတော်မြတ်အား အထူးဂရု ဓမ္မပြုခြင်း၊ ယင်းကုရ်အာန် ကျမ်း မြတ်အားပျံ့နှံ့မှုကို လွဲ ကူစေရန်၊ ၎င်းအား ကမ္ဘာ့တဝှမ်းရှိ မွစ္စလင်မ်များအား ဖြန့်ဖြူးခြင်း၊ အနက်အဓိပ္ပါယ် ဖွင့် ဆိုခြင်း နှင့် ဘာသာပေါင်းစုံတွင် ဘာသာပြန်ဆိုရေး သား ခြင်းပင်ဖြစ်သည်။

ဤသည်ကို အဓိကထားကာ၊ စအူဒီအရေဗျနိုင်ငံရှိ သာသနာရေး၊ အဆောင်ထားရေး၊ သာသနာ့ဖြန့်ချီရေးနှင့်လမ်းညွှန်မှု ဝန်ကြီး ဌာနသည် ကုရ်အာန်ကျမ်းမြတ် အား ဝင့် ဝါသော ကမ္ဘာ့ဘာသာ စကားပေါင်း စုံတွင် ပြန်ဆိုရေး သား ခြင်းဖြင့် အရပ် စာပေ မကျွမ်းကျင်သည့် မွစ္စလင်မ်များအဖို့ လွယ်လင့်တကူ နားလည်သဘောပေါက်မိရန် ၎င်း၊ တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လာဟု အလိုက် ဟိဝစ္စလ္လာမ်)၏ ပြဋ္ဌာန်းချက် ဖြစ်သည့် "ငါ၏ကိုယ်စား၊ တအာယသ်တော်ပင်ဖြစ်လင့်ကစား၊ အသင်တို့ပို့ဆောင်ပါလေ" ဟူသည့် ဥဝါဒ တော်အားလည်း ကျေပွန်အောင် ဆောင်ရွက်ခြင်းပင်ဖြစ် ပေသည်။

မြန်မာ မွစ္စလင်မ်များအလို့ငှာ အကျိုးသည်ပိုး ဆောင်ရွက်သည့်အားဖြင့်၊ မြန်မာစာပေ တတ်ကျွမ်း သည့် မွစ္စလင်မ်များ အဖို့ ဤ"ကုရ်အာန်ကျမ်းမြတ်၊မြန်မာဘာသာပြန်"ကိုတင်ဆက်ခြင်းသည်၊ မဒီနာဟ်မြို့တော်ရှိ "ဖဟဒ်ဘုရင် ကုရ်အာန်ကျမ်းမြတ်ပုံနှိပ်တိုက်"အဖို့ အလွန်တရာပင် ခြီးမြင့် ဂုဏ်ယူဘွယ်ရာဖြစ်ပေသည်။

ဤ "ကုရ်အာန် ကျမ်း မြတ်၊ မြန်မာဘာသာပြန်"သည် ယခင်ကမြန်မာနိုင်ငံရှိ သာသနာ့ပညာရှင်များတစုမှ ပြုစု၊ စီရင်၊ ရေးသား ထား သော ကျမ်းဂန်တစောင်ဖြစ်ပြီး "ဖဟဒ်ဘုရင် ကုရ်အာန် ကျမ်း မြတ် ပုံနှိပ်တိုက်" မှ မော်လာနာ အဗ္ဗဒွလ် ဟမီးဒ် မဓါဟရီ၊ နဒဝီ နှင့် မော်လာနာ အဗ္ဗဒွလ် ခါလိက္က အဗ်ဒွလ်ဝလီမဓါဟရီ တို့ ကတည်း ဖြတ် ခဲ့ ခြင်း ဖြစ်သည်။ ထိုနည်း၎င်း၊ ဤ အခွင့် ရေး ကို အသုံး ပြုကာ၊ "ကုရ် အာန် ကျမ်း မြတ် ၏ အလင်းပြ ကျမ်း"မူပိုင်ဖြစ်သည့် မြန်မာနိုင်ငံရှိ "အစ္စလာမ် ဗဟိုရံပုံငွေအဖွဲ့"အား လည်း ယင်း ကျမ်းဂန်အား ပြန်လည် ပုံနှိပ်ထုတ်ဝေခွင့် ပြုသည်ကို အထူး ကျေးဇူးတင်ရှိပါ၏။

အလွန်မွန်မြတ်လှသော ဤလုပ်ငန်းကြီး အထမြောက်အောင်မြင်ပါစေဟူ၍ အလ္လာဟ်အသျှင်မြတ်ထံတော်၌ ဆုမွန်ကောင်း တောင်းပါ၏။ ဤလုပ်ငန်းတော်အား ဖြူစင်၊ စင်ကြယ်သည့် စိတ်နှစ်လုံးသားဖြင့် အလ္လာဟ်အသျှင်မြတ် အလို့ငှာသက်သက် ဆောင်ရွက်ခဲ့သည့် လုပ်ငန်းအဖြစ် အတည် ပြု တော် မူပါစေ၊ ထို့ ပြင် တဝ လူခပ်သိမ်းတို့ အား အကြိုးဖြစ်ထွန်းပါ စေ။

အမှန်စင်စစ်၊ ဤဘာသာပြန် ကျမ်းဂန်သည်၊ ဘာသာပြန် ပညာရှင်များ၏ တတ်စွမ်းနိုင်သမျှ ကျိုး စား အားထုတ်ကာ အလ္လာဟ်အသျှင်မြတ် ၏ ကျမ်းဂန်တော်အား နားလည်သဘောပေါက် ခြင်း ၏ အကျိုးဆောင်သာလျှင် ဖြစ်၏။ မရှိစူး ဘဲ၊ အမှတ်တမဲ့၊ တစုံတရာအမှား အယွင်း ရှိခဲ့ ပါက၊ ဤ သည် မန သာလူသားတိုင်း မှားယွင်းနိုင်သည့် မှားယွင်းမှုနှင့် ချို့ယွင်းမှု သက်သက် သာလျှင် ယူဆကြ ပါကုန်။

သို့ဖြစ်ပေရာ၊ ဤဘာသာပြန်ကို ဖတ်ရှု လေ့လာသူတိုင်းအဖို့၊ တစုံတရာ အမှား အယွင်း သော်လည်း ကောင်း၊ ချို့ယွင်း မှုသော် လည်းကောင်း ၊ တိုးချဲ့မှုသော်လည်းကောင်း၊ မှတ်ချက်တစုံတရာတွေ့လိုတွေ့ငြား ၊ မဒီနာဟ်မြို့ တော် ရှိ ဖဟဒ်ဘုရင်ကုရ်အာန်ကျမ်းမြတ် ပုံနှိပ်တိုက် သို့ တိုက်ရိုက် ပို့ဆောင်ပါရန် အထူးမေတ္တာရပ်ခံ အပ်ပါသည်။ ယင်းမှတ်ချက်များအားလေ့လာဖတ်ရှုသူများ ပိုမိုအကျိုးဖြစ်ထွန်းစေရန်အလို့ငှာ၊ လာလတ္တံ့သော နောက်ဆက်တွဲများတွင် တိုးချဲ့ ထည့်သွင်း ပေပါမည်။ (အင်ရှာအလ္လာဟ် – အလ္လာဟ်အသျှင်မြတ် သဘောတူခဲ့ပါလျှင်)။

"အလ္လာဟ်အသျှင်မြတ်သည်သာလျှင် အောင်မြင်မှုပေးသနားတော်မူသော အရှင်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည်သာလျှင် တရားလမ်းမှန်သို့ညွှန်ပြတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။"

**အဗ်ဒွလ္လာဟ် ဘင် န်အဗ်ဒွလ်မှုဟ်စင်န် အလ် သုရ်ကီ**

**ဝန်ကြီး**

သာသနာရေး၊ အဆောင် ထား ရေး၊ သာသနာ့ဖြန့် ချီ ရေးနှင့် လမ်းညွှန် မှု ဝန် ကြီးဌာန

"ဖဟဒ် ဘုရင် ကုရ်အာန် ကျမ်း မြတ် ပုံ နှိပ် တိုက်" ညွှန် ကြား ရေး မှူးချုပ်

# အဖွင့်ကဏ္ဍ

سُورَةُ الفَاتِحَة

بِسۡمِ ٱللَّهِ ٱلرَّحۡمَٰنِ ٱلرَّحِيمِ ①

၁။ မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူထသော
*အနန္တကရုဏာတော်ရှင်* [၁] ဖြစ်တော်မူထသော
(မဟာနုဒယောမဟာနုကမ္ပကော)
*အလ္လာဟ်အရှင်မြတ်* [၂] ၏ နာမံတော်ဖြင့်
အစပြုပါ၏။

① **ကုရ်အာန်ကျမ်းမြတ်သည် အစမှအဆုံးတိုင် ကရုဏာချည်းသာတည်း။**

ကုရ်အာန်ကျမ်းမြတ်၏ အစအဦး၌ပင် အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်ဖွင့်ရာတွင် ပဌမဆုံးသော ဂုဏ်တော်ကား ဤ(ကရုဏာရှင်)တည်းဟူသော ဂုဏ်တော်ပင်ဖြစ်လေသည်။ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကရုဏာတော် များကို ထင်ပေါ်စေသည်ထက် ထင်ပေါ်စေရန်အလို့ငှာ ကုရ်အာန်ကျမ်းမြတ်တွင် ကဏ္ဍစဉ်-၅၅ "အနန္တကရုဏာရှင်" မည်သောကဏ္ဍကို အထူးတလည် ထုတ်ပြန်ပို့ချတော်မူ၏။ ယင်းကဏ္ဍတွင် အလ္လာဟ်အရှင်မြတ်သည် မိမိကိုယ်တော်တိုင် ရက်ရောစွာ ပေးကမ်းတော်မူထားသော ဂုဏ်ကျေးဇူးများကို အနည်းနည်း အဖုံဖုံ ထုတ်ဖော်ပြလျက် "အို-(ဂျင်န်နှင့်လူ) အသင်တို့နှစ်စုသည် မိမိတို့၏ အရှင့် ဂုဏ်ကျေးဇူးတော်များအနက် အဘယ်ကျေးဇူးကို ငြင်းပယ်နိုင်ကြပါသနည်း"။ ဟု အကြိမ်ပေါင်း-၃၁-ကြိမ်မျှ သတိပေးနှိုးဆော်၍ မိမိ၏ကရုဏာတရားတော်များကို ပေါ်လွင်ထင်ရှားစေသည်။

ဤမျှမကသေး၊ အလ္လာဟ်အရှင်မြတ်သည် ကရုဏာတရားကို အမြတ်တနိုး ရှေ့ရှုတော်မူ၍ ဝေနေယျသတ္တဝါများပေါ်၌ ကရုဏာတရား ထားရှိတော်မူကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် ဤသို့ မိန့်ဆိုပြန်လေသည်။

(က) (အလ္လာဟ်အရှင်မြတ်သည်) မိမိအဘို့ ကရုဏာပြုမှုကို ပြဋ္ဌာန်းထားတော်မူပြီ။ (၆:၁၂)

(ခ) ငါ(အလ္လာဟ်အရှင်မြတ်)၏ ကရုဏာတော်သည် အရာခပ်သိမ်းကို လွှမ်းခြုံလျက်ရှိချေပြီ။(၇:၁၅၆)

ထိုနည်းတူစွာ နဗီတမန်တော် မုဟမ္မဒ်(ဆွ)အား ချီးကျူးရာ၌လည်း ကုရ်အာန်ကျမ်းမြတ်တွင် စကြာဝဠာအပေါင်းတို့၏ "ကရုဏာတော်ရှင်" ဟူ၍ မိန့်ဆိုထားသည်။

(ဂ) ငါ(အလ္လာဟ်အရှင်မြတ်သည်) အသင့်အား စကြာဝဠာအပေါင်းအဘို့ရာ "ကရုဏာတော်ရှင်" အဖြစ်ဖြင့်သာ စေလွှတ်တော်မူသည်။ (၂၁:၁၀၇)

(ဃ) ထိုမှတပါးတုံ ကုရ်အာန်(၄၈:၂၉)တွင် မွတ်စ်လင်မ်တို့သည် အချင်းချင်း တဦးနှင့်တဦးဆက်ဆံရာတွင် ကရုဏာသက်ဝင်၍ ဆက်ဆံကြောင်းကို မိန့်ဆိုပြီး ယင်းကရုဏာတရားတော်ကိုပင် ရှေ့ရှုချီးကျူး ထားပြန်လေသည်။

(င) ကရုဏာတရားပွားများခြင်း၏အကျိုးကို ထင်ရှားစေရန်အလို့ငှာ နဗီတမန်တော် မုဟမ္မဒ်(ဆွ)၏ မိန့်မြွက်ဟအပ်သော ဒေသနာတော်ကို"ဗုခါရီ" ကျမ်းတွင် ဤသို့တွေ့ရှိရသည်။ "အကြင်သူသည် ➤➤

ٱلْحَمْدُ لِلَّهِ رَبِّ ٱلْعَٰلَمِينَ ﴿٢﴾

၂။ ချီးမွမ်း ထောမနာခြင်း ဟူဟူသမျှသည် စကြာဝဠာ အပေါင်းတို့ကို (မဖြစ်ပေါ်မီကစ၍ ပြည့်စုံပြီးစီးသည့်တိုင်အောင် အဆင့်ဆင့်) ပြုစုပျိုးထောင်တော်မူထသော အလ္လာဟ် အရှင်မြတ် အဘို့သာတည်း။

ٱلرَّحْمَٰنِ ٱلرَّحِيمِ ﴿٣﴾

၃။ (အလ္လာဟ်အရှင်မြတ်သည်) မဟာနုဒယော၊ မဟာနုကမ္ပကော၊ မပြတ်မစဲ သနားကြင်နာညှာတာတော်မူသော အနန္တကရုဏာတော်ရှင် ဖြစ်တော်မူ၏။

---

➤➤လူအများအပေါ်ဝယ် သနားကြင်နာမှုကင်းမဲ့၏၊ ထိုသူအား အလ္လာဟ်အရှင်မြတ်လည်း သနားကြင်နာတော်မူမည်မဟုတ်။"

(စ) ကုရ်အာန်ကျမ်းမြတ်ပင်လျှင် "ကရုဏာတရား" ဖြစ်ကြောင်း ဤသို့ဆိုထားပြန်၏။ "(အို–နဗီတမန်တော်) ငါအရှင်သည် အကြောင်းအရာခပ်သိမ်းတို့ကို ရှင်းလင်းရန်၄င်း၊ တရားဓမ္မကို ညွှန်ကြားပြသရန်၄င်း၊ ကရုဏာတရား ပွားများစေရန်၄င်း၊ အသင့်ထံသို့ ကုရ်အာန်ကျမ်းဂန်ကို ပို့ချပေးသနားတော်မူသည်။ (ထို့ပြင်တဝ ယင်းကျမ်းဂန်သည်) မွတ်စ်လင်မ်များအဘို့ ပီတိသောမနဿမင်္ဂလာရှိသော သတင်းလည်းမည်၏။" (၁၆း၈၉)

ကုရ်အာန်ကျမ်းမြတ်နှင့် "ဗုခါရီ"ကျမ်းကြီးများတွင်ကရုဏာတရားတော်ကို မြောက်မြားစွာသော ဌာနများ၌ ချီးမြှင့်ထားသည်ကို နိသမ္မဉာဏ်ဖြင့် တွေးတောဆင်ခြင်သော ပုဂ္ဂိုလ်တိုင်းပင် အစ္စလာမ်သာသနာတော်သည် အလွန်တရာမှ သိမ်မွေ့နူးညံ့၍ သန္တိတရား၊ ခေမတရား၊ ငြိမ်းချမ်းရေးတရား၊ ကရုဏာတရားတို့ကို ပွားများစေသော တရားဓမ္မဖြစ်သည်ဟု ဧကန်မုချ ဝန်ခံရပေလိမ့်မည်။

(၂) ကုရ်အာန်ကျမ်းမြတ်တွင် ကိုးကွယ်ရာဟူသော သဘောတရားနှင့် စပ်လျဉ်း၍ "အလ္လာဟ်" ဟူသောပုဒ်နှင့် "ဣလ္လာဟ်" ဟူသောပုဒ်ကို မြောက်မြားစွာသော နေရာတို့၌ သုံးထားသည်။ ကွဲပြားချက်မှာကား ဤသို့တည်း။ "ဣလ္လာဟ်"ဟူသောပုဒ်သည် လူမျိုးအသီးသီးတို့မိမိတို့အယူဝါဒအလျောက်ယုံကြည်ကိုးစားသော ကိုးကွယ်ရာများ အတွက် အသုံးပြုနိုင်သောပုဒ်ဖြစ်သည်။ "အလ္လာဟ်" ဟူသောပုဒ်မှာကား ဧကန်ဆတ်ဆတ် မုချတ္တ ကိုးကွယ်ခြင်းကို ခံထိုက်တော်မူထသော(ဧကော)တဆူတည်းသော၊(အသာဓါရဏော)ဆက်ဆံသူကင်းသော၊(နိမ္မာတာ) အရာခပ်သိမ်းတို့ကို ဖန်ဆင်းတော်မူထသော၊(အနာဒိကော)အစမရှိသော၊(အနန္တိကော)အဆုံးမရှိသော၊ (အဒုတိယော) ပေါင်းဖေါ်ပေါင်းဘက်ကင်းသော၊ (အသမော) အတုမရှိသော၊(အပ္ပဋိပုဂ္ဂလော)ပြိုင်ဘက်မရှိသော၊ (အပ္ပမေယျော) မနှိုင်းယှဉ်အပ်သော၊(အတုလော)တူသူမရှိသော၊(အစိန္တေယျော)မကြံစည်ကောင်းသော၊ (သဗ္ဗညူ၊သဗ္ဗဝိဒူ) ခပ်သိမ်းကုန်သောအရာတို့ကိုမိမိတန်ခိုးအာနုဘော်ဖြင့်အလိုအလျောက်သိတော်မူထသော ၊(နိစ္စ၊ထာဝရ) အမြဲတည်လျက်ရှိသောကိုးကွယ်ရာအရှင်မြတ်အဘို့သာသီးသန့်၍သုံးရသော ဧကဝိစနာမ်ပုဒ်ဖြစ်သည်။

مٰلِكِ يَوْمِ الدِّيْنِ ۝٣

၄။ (အလ္လာဟ်အရှင်မြတ်သည် ခပ်သိမ်း ကုန်သော သတ္တဝါတို့ကို ရှင်ပြန်ထစေတော်မူ၍ သူတော်စင်တို့အား)ကောင်းကျိုး၊ (မသူတော်တို့အား) မကောင်းကျိုး ပေးတော်မူမည်ဖြစ်သောနေ့ကို (ကြွယရ) အစိုးရတော်မူသောအရှင်ဖြစ်သည်။

اِيَّاكَ نَعْبُدُ وَاِيَّاكَ نَسْتَعِيْنُ ۝٤

၅။ ကျွန်တော်မျိုးတို့သည် ကိုယ်တော်အရှင်မြတ်ကိုသာလျှင် ခယရိုကျိုး ရှိခိုးဆည်းကပ်ပါ၏။ ထို့ပြင်တဝ ကျွန်တော်မျိုးတို့အား ကူညီစောင်မတော်မူပါရန် ကိုယ်တော်အရှင်မြတ် အထံတော်၌သာ လျှင် ဆုတောင်းပတ္ထနာပြုပါ၏။

اِهْدِنَا الصِّرَاطَ الْمُسْتَقِيْمَ ۝٥

၆။ (အို-အလ္လာဟ်အရှင်မြတ်) ကျွန်တော်မျိုးတို့အား အစစအရာရာတွင် ဖြောင့်မတ်မှန်ကန်သော (မစ္ဆိမပဋိပဒါ)ဥဇုမဂ္ဂလမ်းစဉ် [၁] ကို ညွှန်ကြားပြသတော်မူပါ။

صِرَاطَ الَّذِيْنَ اَنْعَمْتَ عَلَيْهِمْ ۝

၇။ အကြင်သူတို့အပေါ်ဝယ် အလ္လာဟ်အရှင်မြတ်သည် (မေတ္တာကရုဏာသက်ဝင်တော်မူ၍) သုခချမ်းသာဂုဏ်ကျေးဇူးကို ပြုခဲ့လေပြီဖြစ်၏။ ထိုသူမွန်သူမြတ်တို့၏ တရားလမ်းကို (ကျွန်တော်မျိုးတို့အားလည်း ညွှန်ကြားပြသတော်မူပါ။)

غَيْرِ الْمَغْضُوْبِ عَلَيْهِمْ وَلَا الضَّآلِّيْنَ ۝٦

အမျက်တော်စူးရှခြင်း ခံရသူများ(၏လမ်း)လည်း မဟုတ်၊ လမ်းမှားသူများ(၏လမ်း)လည်း မဟုတ်၊ (သူမွန်သူမြတ်တို့၏ ဥဇုမဂ္ဂလမ်းမှန်ကိုသာ ညွှန်ကြားပြသတော်မူပါ)။

---

(၁) "ဖြောင့်မတ်သောလမ်းသည် တရားစည်းကမ်း နည်းလမ်းမှန်သောလမ်း၊ တနည်းအားဖြင့် အစ္စလာမ်သာသနာတော်ကိုပင် ဆိုလိုသည်။"

**မှတ်ချက်။** ။"(ဆွလာဟ်ဝတ်ပြုရာတွင်) 'အဖွင့်ကဏ္ဍ' ကို ရှေ့ဆောင်ရှေ့ရပ်ပုဂ္ဂိုလ် ရွတ်ဖတ်သရဇ္ဈာယ်၍ ပြီးစီးသည့်အခါ၌ အသင်တို့သည် 'အာမီန်' ဟု ဆိုကြကုန်လော့ "ဟုနဗီတမန်တော် မုဟမ္မဒ်(ဆွ)မိန့်တော်မူခဲ့သည်။

# ဂါဝီကဏ္ဍ

سُوْرَةُ الْبَقَرَةِ

ဤကဏ္ဍ၏ အမည်နာမမှာ "ဂါဝီ" ကဏ္ဍဖြစ်သည်။ မဒီနာမြို့တော်၌ ကျရောက်ခဲ့သည်။ ဤကဏ္ဍတွင် အာယတ်တော်ပေါင်း ( ၂၈၆ )၊ ရုကူအ်အပိုဒ်ပေါင်း ( ၄၀ ) အသီးသီးပါရှိ၏။

## "ဂါဝီ" ကဏ္ဍဟု အမည်မှည့်ခေါ်ရခြင်းအကြောင်း။

နဗီတမန်တော် မူစာ(အ)၏လက်ထက် ယဟူဒီဘာသာဝင်များ အီဂျစ်နိုင်ငံတွင် နေထိုင်ကြစဉ် ယင်းသူတို့၌ နွားကိုးကွယ်မှုသည် ဖြစ်ပေါ်လာ၏။ ဤနွားကိုးကွယ်မှုပပျောက်၍ ဧကေဝတဆုတည်းသော အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ရန်အလို့ငှာ ကြန်အင်လက္ခဏာ အဖြာဖြာနှင့် ပြည့်စုံသော နွားမတစ်ကောင်ကို သတ်ဖြတ်ရန် ယင်းသူတို့အပေါ်၌ အလ္လာဟ်အရှင်မြတ်ထံမှ အမိန့်တော်ကျရောက်လေသည်။ ထိုအတ္ထုပ္ပတ္တိကို အကြောင်းပြု၍ ဤကဏ္ဍကို "ဂါဝီ" ကဏ္ဍဟုမှည့်ခေါ်သည်။ ယင်းနွားမ၏အကြောင်းကို ဤကဏ္ဍ(၂း ၆၇-၇၁) တွင် တွေ့ရပါအံ့။

## "အဖွင့်" ကဏ္ဍနှင့် "ဂါဝီ" ကဏ္ဍ၏ ဆက်စပ်မှု။

ကုရ်အာန်ကျမ်းမြတ်၏ ပဌမကဏ္ဍဖြစ်သော "အဖွင့်" ကဏ္ဍတွင် ကျွန်တော်မျိုးတို့အား (အစစအရာရာတွင်) ဖြောင့်မတ်မှန်ကန်သော မဇ္ဈိမပဋိပဒါလမ်းစဉ်ကို ညွှန်ကြားပြသတော်မူပါဟု အရှင့်ထံ ဆုတောင်းပတ္ထနာပြုထားရာ ဤ "ဂါဝီ" ကဏ္ဍ၏အစ၌ပင် (ဤကျမ်းသည်) သူတော်စင်များအဘို့ သဒ္ဓမ္မတရားတည်းဟု အလ္လာဟ်အရှင်မြတ်သည် ပြန်လည်မိန့်ကြားတော်မူ၍ မိမိ ကျေးတော်ကျွန်တော်များ၏ ဆုပန်ချက်ကို လက်ခံသဘောတူတော်မူကြောင်း ပါရှိလေသည်။ ဤသို့အားဖြင့် "အဖွင့်" ကဏ္ဍနှင့် "ဂါဝီ" ကဏ္ဍသည် အကျိုးနှင့်အကြောင်း ဖြစ်ချေသည်။

ထိုမှတပါးတုံ "အဖွင့်" ကဏ္ဍတွင် အရှင်မြတ်၏အမျက်တော် စူးရှခြင်းခံရသောသူများ၏ လမ်းမှားမှ ဝေးကွာရန်အတွက် တောင်းဆိုထားသော ဆုတောင်းပတ္ထနာနှင့်စပ်လျဉ်း၍ ဤ "ဂါဝီ" ကဏ္ဍတွင် အစ္စရာအီလီလူမျိုးများသည် မည်ကဲ့သို့သော ပြစ်မှုများကြောင့် အမျက်တော်စူးရှခြင်းခံရသည်ကိုလည်း အကျယ်တဝင့်ဖော်ပြထားသည်။ ဤသို့အားဖြင့် "ဂါဝီ" ကဏ္ဍသည် "အဖွင့်" ကဏ္ဍနှင့် ဆက်စပ်လျက်ရှိကြောင်းကို ထင်ရှားစွာတွေ့မြင်ရပေသည်။

## ရာဇဝင်နောက်ခံ။

နဗီတမန်တော် မုဟမ္မဒ်(ဆွ)သည် မဒီနာမြို့၌ သီတင်းသုံးနေစဉ် ထိုမြို့နှင့်အနီးအနား ဆင်ခြေဖုံး ရပ်ကွက်များ၌ နေထိုင်လျက်ရှိသော ယဟူဒီဘာသာဝင်နှင့် ခရစ်ယာန်ဘာသာဝင်များသည် အာဏာရရှိမှု၊ ပုဂ္ဂိုလ်စွဲကြည်ညိုမှု၊ မိရိုးဖလာ ထုံးတမ်းစဉ်လာ ကိုးကွယ်မှုများကြောင့် အလ္လာဟ်အရှင်မြတ်ထံမှ ထုတ်ပြန်ပို့ချ ပေးသနားတော်မူသော ကျမ်းများကိုပင် လျစ်လျူရှုနေကြကုန်၏။

ထိုရောကာလမဒီနာမြို့တွင်းရှိ "ဗနူခဇ်ရဂျ်" မျိုးနွယ်၏ ခေါင်းဆောင်ဖြစ်သော "အဗ်ဒုလ္လာဟ်ဣဗ်နုအုဗိုင် ဣဗ်နိစုလူလ်" နှင့် အပေါင်းအဖော်များသည် တန်ခိုးအာဏာနှင့် ဥစ္စာဓနလောဘမှုစိတ်ဖြင့် မွတ်စ်လင်မ် အသွင်ဆောင်၍ အစ္စလာမ်ဘာသနာကြီး၏အရိပ်ခိုကာ ကိုယ်ပေါင်းစိတ်ခွာ ကိုယ်ကျိုးရှာနေကြတော့၏။ ➤➤

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အစဉ်သနားကြင်နာ ညှာတာတော်မူထသော အနန္တကရုဏာရှင် ဖြစ်တော်မူသော အလ္လာဟ် အရှင်မြတ်၏ နာမံတော်ဖြင့် (အစပြုပါ၏)။

الٓمٓ ①

၁။ *အလိဖ်လာမ်မီမ်* ①

ذٰلِكَ الْكِتٰبُ لَا رَيْبَ ۛ فِيْهِ ۛ هُدًى لِّلْمُتَّقِيْنَ ②

၂။ ဤကျမ်းသည် (ထုတ်ပြန် ပို့ချပြီးသော ကျမ်းဂန် အသီးသီးတို့၌ ဗျာဒိတ်ပေးထားပြီးဖြစ်သော ပရမတ္ထကုရ်အာန်) ဓမ္မကျမ်းဖြစ်သတည်း။ ယင်းကျမ်းမြတ်နှင့်စပ်လျဉ်း၍ ယုံမှားသံသယ ဝိစိကိစ္ဆာဖြစ်ဘွယ်ရာ အကြောင်း အလျှင်းမရှိပြီ။ ယင်းကျမ်းမြတ်သည် သူတော်စင်များအတို့ တရားလမ်းမှန်ကို ညွှန်ကြားပြသသော တရားဓမ္မဖြစ်သတည်း။

➢➢ နဗီတမန်တော်သည် ထိုအချိန်တွင် အောက်တွင်ဖော်ပြပါ မသမာသော ရန်သူသုံးမျိုးသုံးစားနှင့် ရင်ဆိုင်တွေ့ဆုံနေရတော့၏။

(က) မက္ကာမြို့ရှိ အရဗ် ကာဖိရ် မိစ္ဆာဒိဋ္ဌိကများ။

(ခ) ယဟူဒီဘာသာဝင်နှင့် ခရစ်ယာန်ဘာသာဝင်များ။

(ဂ) "မုနာဖိက်" မည်တွင်သော မွတ်စ်လင်မ် အသွင်ဆောင်သူများ။

ထိုသုံးမျိုးသုံးစားသောသူများအား ချီအေးယဉ်ကျေးသော အစ္စလာမ်သာသနာတော်နှင့် လိုက်နာကျင့်ဆောင်အပ်သော ပဋိပတ်များကို ဟောကြားရန်အလို့ငှါ အလ္လာဟ်အရှင်မြတ်သည် နဗီတမန်တော်ထံ ဤကဏ္ဍကို မဒီနာမြို့၌ စတင်ထုတ်ပြန်ပေးသနားတော်မူ၏။ ဤသည်ကား ဤကဏ္ဍ၏ အကျဉ်းသင်္ခေပ ရာဇဝင် နောက်ခံတည်း။ အခြားအတ္ထုပ္ပတ္တိများကို သက်ဆိုင်ရာ ပါကျများတွင် ဖော်ပြသွားပါအံ့။

**<u>ကဏ္ဍ၏ ရည်ရွယ်ချက်</u>**

ဤကဏ္ဍကို ထုတ်ပြန်ချမှတ်ရခြင်း၏ရည်ရွယ်ချက်မှာ အလ္လာဟ်အရှင်မြတ်၏ တရားဒေသနာတော်များကို သွေဖည်ငြင်းဆန်သော အစ္စရာအီလီလူမျိုးများ၏ ပျက်စီးခြင်းဖြစ်အင်ကိုဆင်ခြင်၍ မွတ်စ်လင်မ်များ သတိသံဝေဂ တရားရရှိရန်ဖြစ်သည်။

① ကုရ်အာန်ကျမ်းမြတ်တွင် (၂၉) ခုသော ကဏ္ဍများ၏အစ၌ ဤအက္ခရာစုကဲ့သို့ အဓိပ္ပါယ် လျှို့ဝှက်ထားသော သင်္ခေပအက္ခရာများ ပါရှိ၏။ ယင်းအက္ခရာများကို "ဟုရူဖ်မုကတ်တွအဟ်" ဟု ခေါ်ဝေါ်သမုတ်၏။ ထိုအက္ခရာများ၏ အနက်အဓိပ္ပါယ်ကို အလ္လာဟ်အရှင်မြတ်မှတပါး အခြားမည်သူမျှ တပ်အပ်သေချာစွာမသိချေ။

"အလိဖ်လာမ်မီမ်" ဟူသော သင်္ခေပအက္ခရာသည် အောက်ပါကဏ္ဍ(၆)ခု၏ အစ၌ ပါရှိသည်။

(က) "ဂါ၀ီ" ကဏ္ဍ (ကဏ္ဍ ၂)။

(ခ) "အင်မ်ရာန်၏အမျိုးအနွယ်" ကဏ္ဍ (ကဏ္ဍ-၃)။ ➢➢

الَّذِيْنَ يُؤْمِنُوْنَ بِالْغَيْبِ وَيُقِيْمُوْنَ الصَّلٰوةَ وَمِمَّا رَزَقْنٰهُمْ يُنْفِقُوْنَ ③

၃။ အကြင်သူတော်စင်များသည် (ကုရ်အာန်ကျမ်းလာ) *အကွယ်၌တည်ရှိသောအရာများ* [၁] ကို အမှန်ဖြစ်သည် ရှိသည်ဟု (ခိုင်ခံ့မြဲမြံသော အစလသဒ္ဓါတရားဖြင့်) *ယုံကြည်* [၂] ကြသည်။ (စည်းကမ်းသေဝပ်စွာ) ဆွလာတ် [၃] ဝတ်ပြုကြသည်။ ထို့ပြင် ထိုသူတို့အား ငါအရှင် ပေးသနားတော် မူထားသော ဥစ္စာပစ္စည်းများ မှ ထိုသူတို့သည် (တရားတော်နှင့်အညီ) *လှူဒါန်းကြသည်။* [၄]

➤➤ (ဂ) "ပင့်ကူကောင်" ကဏ္ဍ (ကဏ္ဍ ၂၉)။
(ဃ) "ဗိုင်ဇင်တိုင်လူမျိုးများ" ကဏ္ဍ (ကဏ္ဍ ၃၀)။
(င) "သုခမိန်လုက်မာန်" ကဏ္ဍ (ကဏ္ဍ ၃၁)။
(စ) "ပျပ်ဝပ်၍ဦးချခြင်း" ကဏ္ဍ (ကဏ္ဍ၃၂)။

① အလ္လာဟ်အရှင်မြတ်နှင့် အပါးတော်စေတမန်များ၊ "ဂျန္နတ်" အမတသုခဘုံ၊ နိရယ ငရဲဘုံ၊ တမလွန်ဘဝရှိခြင်း၊ သေပြီးနောက် ရှင်ပြန်ထခြင်း. . . . . အစစသောမျက်ကွယ်အရာများ အကျုံးဝင်ကြလေသည်။ ကုရ်အာန်ကျမ်းမြတ် (၂း၂)တွင် "တက်ဝါ" တရားကို ကျင့်ဆောင်သောသူများ၏ ဂုဏ်ကိုဖော်ပြရာ၌ ထိုသူတို့သည် အထက်အဆိုပါ မျက်ကွယ်၌ ဖြစ်သောအရာများပေါ် ခိုင်မြဲစွာယုံကြည်ခြင်း သဒ္ဓါတရားထားရှိသောသူများဖြစ်ကြသည်ဟု ဆိုထားလေသည်။ ဤအကြောင်းကို ဆင်ခြင်ပါက မျက်ကွယ်ရာဖြစ်သော အထက်အဆိုပါ အကြောင်းအရာများပေါ်ဝယ် ယုံကြည်ခြင်း သဒ္ဓါတရား ရှိရမည်ကား "မုအ်မင်"၊ "မွတ်စ်လင်မ်" တိုင်းအတွက် ပဓါန အရင်းခံအချက်ပင် ဖြစ်လေသည်။ မျက်ကွယ်ရာဖြစ်သောအရာများပေါ်ယုံကြည်ခြင်းသဒ္ဓါတရား မရှိဘဲလျက် ကောင်းမှုကုသိုလ်ပြုလုပ်သမျှသည်အချည်းနှီးအဟောသိကံမျှသာဖြစ်ပေသည်။

② အပါးတော်စေတမန်"ဂျိဗ်ရီလ်"ကနဗီတမန်တော်မုဟမ္မဒ်(ဆွ)အား "အီမာန်"ဆိုသည်မှာ အဘယ်အရာနည်းဟု မေးမြန်းရာနဗီတမန်တော်က "အီမာန်"ဟူသည်ကား-
(က) အလ္လာဟ်အရှင်မြတ်ကိုင်း၊
(ခ) ထိုအရှင်မြတ်၏ အပါးတော်စေတမန်များကိုင်း၊
(ဂ) ထိုအရှင်မြတ်၏ ကျမ်းဂန်များကိုင်း၊
(ဃ) ထိုအရှင်မြတ်၏ နဗီတမန်တော်များကိုင်း၊
(င) သေပြီးနောက် ပြန်ရှင်ထရမည့်နေ့ကိုင်း၊
(စ) ထိုအရှင်မြတ်၏ အကောင်းအဆိုး စီမံခန့်ခွဲနိုင်သော အစွမ်းသတ္တိကိုင်း၊
ယုံကြည်ခြင်းကို ဆိုလိုသည်ဟု ပြန်လည်ဖြေကြားတော်မူလေသည်။

③ ဤပုဒ်ကို ကုရ်အာန်ကျမ်းမြတ်တွင်အောက်ပါအဓိပ္ပါယ်များ၌ သုံးစွဲထားသည်။
(၁) ဆွလာတ်ဝတ်ပြုခြင်း၊
(၂) ချီးကျူးမင်္ဂလာပြုခြင်း၊



وَالَّذِيْنَ يُؤْمِنُوْنَ بِمَآ اُنْزِلَ اِلَيْكَ وَمَآ اُنْزِلَ مِنْ قَبْلِكَ ۚ وَبِالْاٰخِرَةِ هُمْ يُوْقِنُوْنَ ۝

၄။ ထို့ပြင် ထိုသူတော်စင်များသည် အသင့်ထံသို့ ထုတ်ပြန်ပို့ချသော (ကုရ်အာန်)ကျမ်းမြတ်ကိုငင်း၊ အသင့်အလျင် ရှေးပဝေဏီက (ပွင့်လေပြီးသော နဗီတမန်တော် များထံသို့) ထုတ်ပြန် ပို့ချသော ကျမ်းဂန်များကိုငင်း၊ [၁] ယုံကြည်ကြ၏။ ထို့ပြင်တဝ ထိုသူတော်စင်များသည် (သမ္ပရာယ)တမလွန်ဘဝ [၂] ကိုလည်း အမှန်ဟူ၍ သံသယကင်းစွာ ယုံကြည်ကြကုန်၏။ [၃]

---



(၃) ဆုတောင်းခြင်း၊

(၄) ဝတ်ကျောင်း၊

ဤပ ဒတွင် ဆွလာတ်ဝတ်ပြုခြင်းအနက်ကိုယူပါကုန်။

"ဆွလာတ်"သည် ပွင့်လေသမျှသော နဗီတမန်တော်တို့၏ ပဋိပတ်ကျင့်စဉ်ဒ္ဓပါရှိ၏။ ကျင့်နည်းကျင့်ပုံသာ ကွာခြားလေသည်။ နဗီတမန်တော် မုဟမ္မဒ်(ဆွ) တမန်တော်ဘဝကို ချီးမြှင့်ခြင်း ခံရပြီးသည့်နောက် များမကြာမီအတွင်း ဒုတိယအကြိမ် ကျရောက်လာသော အမိန့်တော်သည် ဆွလာတ်ဝတ်ပြုရန် အမိန့်ပင် ဖြစ်သည်။ ကြည့်-ကုရ်အာန်(၇၄း၃)။

အစ္စလာမ်သာသနာ့ဗိမာန်ကြီး၏ အကြီးဆုံး အခြေခံအုဋ္ဌမြစ်တခုဖြစ်သော "ဆွလာတ်" သည် နဗဝီသက္ကရာဇ် ၁ ခုနှစ်မှစ၍ ပတ်ဝန်းကျင်အခြေအနေအရ တဖြည်းဖြည်း အဆင့်ဆင့်တိုးတက်၍လာရာ နဗဝီသက္ကရာဇ် ၅ ခုနှစ်တွင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ချမှတ်ချက်အရ ယခုလက်ရှိအတိုင်း စတင်ဖြစ်ပေါ်လာလေသည်။ ကြည့်-"စီရတုန်နဗီ"။

မွတ်စ်လင်မ်တို့သည် အချင်းချင်း ဂိုဏ်းဂဏအားဖြင့် မည်ကဲ့သို့ပင် ကွဲပြားကြလင့်ကစား ဆွလာတ်ဝတ်ပြုရန် အမိန့်တော်ကို နာခံရာ၌မူ အားလုံးသည် တညီတညွတ်တည်း ဖြစ်ကြပေသည်။

(၄) အချို့က ဤဝါကျ၏အလိုမှာ အလ္လာဟ်၏လမ်း၌ သဒ္ဓါဒေယျသဘောဖြင့် ပေးကမ်းလှူဒါန်းခြင်း ဟူ၍ငင်း၊ အချို့ကမူပြဋ္ဌာန်းထားသော "ဇကာတ်" ဟူ၍ငင်း ယူဆကြ၏။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ် ပေးသနားတော်မူသော ပစ္စည်းဥစ္စာ၊ အသိပညာ၊ ရာထူးဂုဏ်အင်နှင့်တကွ ပိုင်ဆိုင်သမျှသော အစွမ်းသတ္တိများကို ကမ္ဘာသူကမ္ဘာသားများ အကျိုးကျေးဇူး ဖြစ်စိမ့်ခြင်းငှာ ထိုအရှင်မြတ်၏ နှစ်မြို့တော်မူခြင်းကို မျှော်ကိုး၍ စည်းကမ်းတကျ ပေးလှူခြင်းကို ဆိုလိုသည်။

(၁) "အသင့်ထံသို့ ပို့ချသောအရာ" ဟူသည် နဗီတမန်တော် မုဟမ္မဒ်(ဆွ)ထံ ထုတ်ပြန်ပို့ချသော ကုရ်အာန်ကျမ်းမြတ်ကိုဆိုလိုသည်။ "အသင့်အလျင် ရှေးပဝေဏီက ပို့ချသောအရာ" ဟူသည်ကား အတိတ်ခေတ်တွင် ပွင့်လေပြီးသော နဗီတမန်တော်များထံ ထုတ်ပြန်ပို့ချတော်မူသော ကျမ်းဂန်အသီးသီးကို ဆိုလိုသည်။

ပို့ချပြီးသောကျမ်းဂန်များအနက် ကုရ်အာန်ကျမ်းမြတ်တွင် အောက်အမည်ပါ ကျမ်းဂန်များကို အထူးသဖြင့် ဖော်ပြထားသည်။

(၁) (တောင်ရာတ်) နဗီတမန်တော်မူစာ(အ)ထံ ထုတ်ပြန်ပို့ချတော်မူသောကျမ်း။ ➤➤

➤➤ (၂) (အင်န်ဂျီလ်) နဗီတမန်တော်အီစာ(အ)ထံ ထုတ်ပြန်ပို့ချတော်မူသောကျမ်း။

(၃) (ဇဗူရ်) နဗီတမန်တော် ဒါဝူးဒ်(အ)ထံ ထုတ်ပြန်ပို့ချတော်မူသောကျမ်း။

အလ္လာအရှင်မြတ်သည် လူမျိုးအသီးသီးတို့အား မြိန်စွာရသ ဓမ္မနက်လေး တိုက်ကျွေးဝေငှ အမတသာခေါင် သုခဘောင်သို့ ပို့ဆောင်တော်မူရန်အလို့ငှာ မြောက်မြားစွာသော နဗီတမန်တော်များကို ကျမ်းဂန်အသီးသီး ချီးမြှင့်၍ စေလွှတ်တော်မူခဲ့၏။ ကြည့်-ကုရ်အာန် (၃၅:၂၄ ၊ ၁၃:၇)။

သို့ဖြစ်ရာ မွတ်စ်လင်မ်များမှာ ယင်း ကျမ်းဂန်အသီးသီးနှင့်တကွ ပွင့်လေသမျှသော နဗီတမန်တော်တို့အား ခြားနားခြင်း အလျှင်းမထားဘဲ ယုံကြည်ကိုင်းရှိုင်းကြရလေသည်။ ကြည့်၊ ကုရ်အာန် (၂း၂၈၅)။

**မှတ်ချက်**

ကုရ်အာန်ကျမ်းတော်မြတ်ထက် ဦးစွာပို့ချပြီးသော ကျမ်းဂန်များသည် လူမျိုးတစ်မျိုး၊ ခေတ်တစ်ခေတ်၊ နယ်တစ်နယ်အတွက်သာ ဖြစ်သည့်အပြင် ယင်းကျမ်းဂန်များသည် ယနေ့အတို့ မူရင်းအတိုင်းလည်း မရှိကြတော့ပြီ။ ကုရ်အာန်ကျမ်းမြတ်မှာမူ စကြာဝဠာတစ်ဝှမ်းလုံးရှိ လူမျိုးတိုင်းအတွက်ဖြစ်သည်သာမက မူရင်းအတိုင်းလည်း ရှိနေပေရာ ယင်းကျမ်းမြတ်ကိုသာ လိုက်နာကျင့်မူကြရပေမည်။

⑫ အချို့ဉာဏ်တိမ်၍ အမြော်အမြင်မရှိသူများသည် ဣန္ဒြိယဓမ္မပစ္စက္ခ မျက်မှောက်ဘဝအပြင် တမလွန်ဘဝ မရှိဟူ၍ ဥစ္ဆေဒဒိဋ္ဌိ မိစ္ဆာအယူမှားကို လက်ခံထားကြသည်ကို တွေ့ရှိရပေသည်။ ဖော်ပြပါအယူမှားကို ပယ်ဖျက်ရန်အလို့ငှာ အလ္လာဟ်အရှင်မြတ်သည် (သမ္မရာယ) တမလွန်ဘဝ၌ သတ်မှတ်ထားသောနေ့တွင် သတ္တဝါတိုင်းပင် သေရာမှပြန်ရှင်ကြ၍ မိမိတို့ပြုမူခဲ့ကြသော ကောင်းမှု မကောင်းမှုဟူသရွေ့၏ အကျိုးခံစားကြရမည်ကို မဖောက်မပြန်သော သဒ္ဓါတရားနှင့် ယုံကြည်ကြရမည်ဟု မြောက်မြားစွာသော နေရာ၌ မိန့်တော်မူထားလေသည်။

⑬ "အီကာန်"ဟူသည် ကိုယ်နှုတ်နှလုံး သုံးပါးလုံးဖြင့် သံသယကင်းသော မဖောက်ပြန်သော ယုံကြည်ခြင်း သဒ္ဓါတရားကို ဆိုလိုသည်။ ကြည့် - ရာဃိဗ်။

အထူးသဖြင့် ဤပါဒတွင် သံသယကင်းသော သဒ္ဓါတရားဖြင့် ယုံကြည်ကြသည်ဟုဆိုရာ၌ မမြင်ဘူး၊ မတွေ့ကြုံဘူးလျက်ပင် အလ္လာဟ်အရှင်မြတ်၏ မုက္ခပါဌ်တော်ကိုသာ ယုံကြည်အားထား၍ တမလွန်ဘဝရှိကြောင်း ယုံကြည်ခြင်းကို ဆိုလိုသည်။

အထက်ပါပါဒ (၃ နှင့် ၄)တွင် "မွတ္တကီ" ခေါ် သူတော်စင်များ၏ အင်္ဂါ ၅ ရပ်ကို ဆင်ခြင်သော် *(က) ယုံကြည်ချက်နှင့် (ခ) ကျင့်ရန်သီလတရားများ* ကို အောက်ပါအတိုင်း တွေ့ရှိရသည်။

(က) **ယုံကြည်မှု အင်္ဂါအစိတ်အပိုင်း၊**

(၁) အကွယ်၌ တည်ရှိသောအရာများကို ယုံကြည်ခြင်း။

(၂) အလ္လာဟ်အရှင်မြတ်ထံမှ ကျရောက်လာသော ကျမ်းဂန်အသီးသီးတို့ကို ယုံကြည်ခြင်း၊

(၃) တမလွန်ဘဝကို ယုံကြည်ခြင်း။

(ခ) **ပြုကျင့်ရမည့် သီလအကျင့်တရားများ၊**

(၁) စည်းကမ်းသေဝပ်စွာ ဆွလာတ်ဝတ်ပြုခြင်း။

(၂) သတ္တဝါခပ်သိမ်းတို့၏ ကောင်းကျိုးကို လိုလားတောင့်တ၍ အလ္လာဟ်အရှင်မြတ်ထံမှ မိမိတို့ရရှိသမျှသော ဥစ္စာပစ္စည်း စွမ်းရည်သတ္တိတို့ကို ကြည်ဖြူစွာ စွန့်ကြဲလှူဒါန်းခြင်း။

(က) ၁၊ လောကီလောကုတ္တရာရေးတိုင်း၌ပင် ယုံကြည်ချက်သည် အလွန်အရေးကြီးသည်။➤➤

اُولٰٓئِكَ عَلٰى هُدًى مِّنْ رَّبِّهِمْ ۗ وَاُولٰٓئِكَ هُمُ الْمُفْلِحُوْنَ ⑤

၅။ (ဖော်ပြပါအင်္ဂါရပ်များနှင့်ပြည့်စုံသော) ထိုသူတော်စင်များသည် မိမိတို့၏ အရှင်သခင်၏ သဒ္ဓမ္မတရားလမ်းပေါ်၌ တည်ရှိကြကုန်၏။ ထိုသူတော်စင်များသည်သာလျှင် အောင်သိဒ္ဓိမျိုးမင်္ဂလာနှင့် ပြည့်စုံသောသူများ ဖြစ်ကြကုန်သတည်း။

اِنَّ الَّذِيْنَ كَفَرُوْا سَوَآءٌ عَلَيْهِمْ ءَاَنْذَرْتَهُمْ اَمْ لَمْ تُنْذِرْهُمْ لَا يُؤْمِنُوْنَ ⑥

၆။ ဧကန်မုချ အသင်သည် သွေဖည်ငြင်းဆန်သော "ကာဖိရ်" မိစ္ဆာဒိဋ္ဌိများအား (ထိတ်လန့်ဘွယ်ရာ အကြောင်းများကို) သတိပေး နှိုးဆော်သည်ဖြစ်စေ၊ မနှိုးဆော်သည်ဖြစ်စေ ထိုသူတို့အဘို့ အကြောင်းမထူး၊ ထိုသူတို့တမူကား ယုံကြည်ကြမည်မဟုတ်ပေ။

▶▶ ယုံကြည်ချက် မှန်ကန်သည်နှင့်အမျှ ကိစ္စအဝဝ အောင်မြင်ပေမည်။ ယုံကြည်ချက် မှားသည်နှင့်အမျှ ကိစ္စအဝဝ ပျက်ပြားရပေမည်။

(ခ) ၁၊ ဆွလာတ်ဝတ်ပြုခြင်းသည် အစ္စလာမ်သာသနာ့ဗိမာန်၏ အခြေခံအုဋ်မြစ်တစ်ခု ဖြစ်သည်သာမက လက်တွေ့ပြုကျင့်ရမည့် တာဝန်များတွင်လည်း ပဌမဆုံးသော တာဝန်ပင်ဖြစ်သည်။ "ဆွလာတ်" သည် သာသနာ၏ မဏ္ဍိုင်မည်၏၊ သို့အတွက်ကြောင့် အကြင်သူသည် ဆွလာတ်ဝတ်ပြု၏။ ထိုသူသည် သာသနာကို တည်ထောင်သည်မည်၏၊ အကြင်သူသည် ဆွလာတ်ကို စွန့်လွှတ်၏။ ထိုသူသည် သာသနာကို ဖြိုဖျက်သည်မည်၏။

(ခ) ၂၊ အကြင်သူတစ်ယောက်သည် အလ္လာဟ်အရှင်မြတ်အား ယုံကြည်၏၊ ဆွလာတ်ဝတ်ပြု၏၊ သို့ရာတွင် သတ္တဝါများအား မကူညီ၊ မယိုင်းပင်း မပေးမလှူ မကျွေးမွေးပါလျှင် ထိုသူသည် သူတော်စင် အစစ်အမှန် ဖြစ်နိုင်မည်မဟုတ်ချေ၊ ကုရ်အာန်ကျမ်းမြတ်၏ မြောက်မြားစွာသော ပါဒများတွင် အလှူဒါန၏ အကျိုးကို ဖော်ပြထားသည်။

(က) ၂၊ ပွင့်လေသမျှသော နဗီတမန်တော်များနှင့် အလ္လာဟ်အရှင်မြတ်ထံမှ ကျရောက်လာသမျှသော ကျမ်းဂန်တို့ကို ခွဲခြားခြင်းအလျှင်းမပြုဘဲ တညီတညွတ်တည်း တသမတ်တည်း ရိုသေခန့်ညားကြရမည်၊ လေးစားကြရမည်၊ ဤသည် အစ္စလာမ်သာသနာတော်၏ သဘောထား ပြည့်ဝမှုတစ်ရပ်ပင်။

(က) ၃၊ ဤမျက်မှောက်ပစ္စုပ္ပန်ဘဝ ကုန်ဆုံးသည့်အခါ တမလွန်ဘဝသို့ရောက်ကြ၍ လောကတွင် ပြုကျင့်ခဲ့သမျှသော သုစရိုက် ဒုစရိုက်မှုများ၏ ကောင်းကျိုး ဆိုးကျိုးများကို စံစား ခံစားကြရမည်၊ တမလွန်ဘဝ ရှိကြောင်းကို ယုံကြည်သော ပညာရှင်တစ်ဦးသည် တခဏမျှအကျိုးပေး၍ နောင်အချိန် ဒုက္ခပေးမည့်ကိစ္စမျိုးကို အလျှင်းကျင့်ကြံမည်မဟုတ်ပေ၊ ကောင်းကျိုးအမြဲ ခံစားရမည့် အကျင့်သီလများကိုသာ ကျင့်သုံးမည်ကား မလွဲတည်း။

ဖော်ပြပါအင်္ဂါ ၅ ရပ်နှင့် ပြည့်စုံသောသူများသာလျှင် "မုတ္တကီ" သူတော်စင်များမည်ကြ၏၊ ယင်းသူတော်စင်များသာလျှင် ကုရ်အာန်ကျမ်းမြတ်၏ ရသာအမြိုက်ကို အထူးတလည် ခံစားနိုင်ကြ၏။ ▶▶

خَتَمَ اللّٰهُ عَلٰى قُلُوْبِهِمْ وَعَلٰى سَمْعِهِمْ ۚ وَعَلٰٓى اَبْصَارِهِمْ غِشَاوَةٌ ۫ وَّلَهُمْ عَذَابٌ عَظِيْمٌ ﴿٧﴾

၇။ အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့၏ စိတ်နှလုံးများနှင့် သောတာရုံအပေါ်၌ တံဆိပ်ခတ်နှိပ်တော်မူလိုက်ပြီ၊ ထို့ပြင် ထိုသူတို့၏စက္ခုအာရုံများအပေါ်၌လည်း အကာအကွယ်ရှိနေလေသည်။ ထို့နောက် ထိုသူတို့အဘို့ ကြီးလေးသော အပြစ်ဒဏ်သည်လည်း အသင့်ရှိချေပြီ။

وَمِنَ النَّاسِ مَنْ يَّقُوْلُ اٰمَنَّا بِاللّٰهِ وَبِالْيَوْمِ الْاٰخِرِ وَمَا هُمْ بِمُؤْمِنِيْنَ ﴿٨﴾

၈။ မနုဿလူသားများအနက် အချို့သောသူတို့သည် (ဥပါယ်တမျဉ်ဖြင့်) ကျွန်ုပ်တို့သည် အလ္လာဟ် အရှင်မြတ်ကိုငင်း၊ (ရှင်ပြန်ထရမည့်) နောက်ဆုံး နေ့ကိုငင်း၊ ယုံကြည်ကြပါ၏ဟု ပြောဆိုကြ၏။ အမှန်သော်ကား ထိုသူတို့သည် ယုံကြည်သော "မုအ်မင်" များမဟုတ်ကြပေ။

يُخٰدِعُوْنَ اللّٰهَ وَالَّذِيْنَ اٰمَنُوْا ۚ وَمَا يَخْدَعُوْنَ اِلَّآ اَنْفُسَهُمْ وَمَا يَشْعُرُوْنَ ﴿٩﴾

၉။ ထို("မုအ်မင်"အသွင်ဆောင်သော) သူများ သည် အလ္လာဟ်အရှင်မြတ်ကိုငင်း၊ (ယုံကြည်ခြင်းသဒ္ဓါတရားရှိသော) "မုအ်မင်" များကိုငင်း၊ လိမ်လည်လှည့်*ဖြားရန်ကြိုးစားအားထုတ်ကြ၏။*[၁] အမှန်သော်ကား ထိုသူများသည် (မည်သူ့ကိုမျှ) လိမ်လည်လှည့်ဖြားကြသည်မဟုတ်၊ မိမိတို့ကိုယ်ကိုသာလျှင် မိမိတို့ လိမ်လည်လှည့်ဖြားကြ၏၊ သို့သော်ထိုသူများသည် (ဤအကြောင်းကိုပင်) သိမြင်နားလည်ကြသည် မဟုတ်ချေ။

---

>> ကုရ်အာန်ကျမ်းမြတ် (၂ : ၁၇၇) တွင် သူတော်စင်များ၏ အင်္ဂါရပ်များကို ထပ်မံရှင်းထားသည်ကို ရှုပါကုန်။

(၁) (مخادعة - يُخٰدِعُوْنَ) ဟူသောပုဒ်၏ အဓိပ္ပါယ်မှာ သူတပါးအား ဒုက္ခဖြစ်စေရန်အလို့ငှာ လိမ်လည်လှည့်ဖြားခြင်း၊ ထင်ယောင်ထင်မှား ဖြစ်စေခြင်း ဖြစ်သည်။ "မွတ်စ်လင်မ်" အသွင်ဆောင်သော သူများသည် အလ္လာဟ်အရှင်မြတ်ကို လိမ်လည် လှည့်ဖြားကြ၏ဟု ဆိုရာ၌ စင်စစ် အလ္လာဟ် အရှင်မြတ်ကို လှည့်ဖြားကြသည်မဟုတ်၊ လှည့်ဖြားနိုင်ကြသည်လည်းမဟုတ်၊ မိမိတို့စိတ်တွင်း၌သာ ငါတို့သည် အလ္လာဟ် အရှင်မြတ်ကို လိမ်လည်လှည့်ဖြားကြသည် ဟူ၍ ယောင်ယောင်မှားမှား အောက်မေ့ခြင်းမျှသာဖြစ်သည်။

فِىۡ قُلُوۡبِهِمۡ مَّرَضٌ ۙ فَزَادَهُمُ اللّٰهُ مَرَضًا ۚ وَلَهُمۡ عَذَابٌ اَلِيۡمٌ ۙۢ بِمَا كَانُوۡا يَكۡذِبُوۡنَ ۝١٠

၁၀။ ထို("မွတ်စ်လင်မ်" အသွင်ဆောင်သော) သူများ၏ စိတ်နှလုံးများ၌ (မနာလိုဝန်တို မစ္ဆရိယ အဘိဇ္ဈာ)တည်းဟူသော ရောဂါဝေနာသည် စွဲကပ်လျက်ရှိ၏။ ¹ သို့ဖြစ်လေရာ အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့၏ရောဂါကို တိုးပွားစေတော်မူ၏။ ထိုမှတပါးတုံ ထိုသူများအတွက် (ဆင်းရဲကြီးစွာ ခံစားရန်) ပြင်းပြနာကျင်ဘွယ်ကောင်းသော အပြစ် ဒဏ်ကိုလည်း အသင့်ထားရှိတော်မူလေ၏။ အဘယ် ကြောင့်ဆိုသော် ထိုသူများသည် (မယုံကြည်ဘဲလျက် ကျွန်ုပ်တို့ ယုံကြည်ကြပါ၏ ဟု) မဟုတ်မလျား မုသားပြောဆိုလေ့ ရှိခြင်းကြောင့်တည်း။

وَاِذَا قِيۡلَ لَهُمۡ لَا تُفۡسِدُوۡا فِى الۡاَرۡضِ ۙ قَالُوۡۤا اِنَّمَا نَحۡنُ مُصۡلِحُوۡنَ ۝١١

၁၁။ ထို("မွတ်စ်လင်မ်" အသွင်ဆောင်သော) သူများအား အချင်းတို့၊ အသင်တို့သည် ကမ္ဘာမြေပြင်ပေါ်ဝယ် ပျက်စီးရာပျက်စီးကြောင်း အမှုကိစ္စများကို မပြုလုပ်ကြလင့်ဟု သြဝါဒစကား ပြောကြားသောအခါ ထိုသူများက ကျွန်ုပ်တို့သည် (အေးချမ်းသာယာအောင်) ပြုလုပ်သူများသာ ဖြစ်ကြပါသည် ဟု တုံ့ပြန်ဖြေဆိုကြလေသည်။

---

① مَرَضٌ ဟူသောပုဒ်သည် (က) ကိုယ်ခန္ဓာ၏ ဖောက်ပြန်ခြင်း (ခ) ကိုယ်ကျင့်တရားများ၏ ဖောက်ပြန်ခြင်း၊ (ဥပမာ) မိုက်မဲခြင်း၊ မနာလိုဝန်တို မစ္ဆရိယအဘိဇ္ဈာ စိတ်ပွါးခြင်း၊ ကောက်ကျစ်စဉ်းလဲခြင်း ယုတ်မာခြင်း အနက်ပေးသည်။ ရောဂဋ္ဌရကပ် ဆိုက်ရောက်လာသည့်အခါ ကျန်းမာရေးပျက်စီးပြီး လိုရာစခန်းသို့ မရောက်နိုင်သည့်အတိုင်း ကိုယ်ကျင့်တရားများ ပျက်ပြားလာလျှင်လည်း လူ့ဘဝတွင် အထွတ်အထိပ်သို့ မရောက်နိုင်ချေ။

"အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့၏ရောဂါကို တိုးပွားစေတော်မူ၏" ဟု ဆိုထားခြင်းမှာ ဥပစာနည်းဖြင့် ဆိုရုံမျှသာဖြစ်သည်။ "မွတ်စ်လင်မ်" အသွင်ဆောင်သူများ၏ ရောဂါသည် အခြားမဟုတ်၊ ယင်းသူတို့၏ မနာလို မရှုစိမ့်သော စိတ်ပင်ဖြစ်သည်။ အစ္စလာမ်သာသနာတော် တိုးပွားလာ သည်နှင့်အမျှ ထိုမသမာသော စိတ်ဓာတ်သည်လည်း အလိုအလျောက် တိုးပွားလာလေတော့၏။ အမှန်စင်စစ် အလ္လာဟ် အရှင်မြတ်က ထိုမသမာသော စိတ်ဓာတ်ကို တိုးပွားစေတော်မူသည်မဟုတ်။

أَلَآ إِنَّهُمْ هُمُ ٱلْمُفْسِدُونَ وَلَٰكِن لَّا يَشْعُرُونَ ⑫

၁၂။ (အို-ကြားနာသူအပေါင်းတို့) သတိပြုကြကုန်လော့။ ထို("မွတ်စ်လင်မ်" အသွင်ဆောင်သော) သူများသာလျှင် (ကမ္ဘာမြေပြင်၌) *ပျက်စီးရာ ပျက်စီးကြောင်းပြုလုပ်သူများ* [၁] ဖြစ်ကြကုန်၏။ သို့ရာတွင် ထိုသူများသည် (မိမိတို့ ပြုကျင့်လျက်ရှိသော မကောင်းမှု များကိုပင် မကောင်းမှုဟူ၍) မသိ နားမလည်ကြချေ။

وَإِذَا قِيلَ لَهُمْ ءَامِنُوا۟ كَمَآ ءَامَنَ ٱلنَّاسُ قَالُوٓا۟ أَنُؤْمِنُ كَمَآ ءَامَنَ ٱلسُّفَهَآءُ ۗ أَلَآ إِنَّهُمْ هُمُ ٱلسُّفَهَآءُ وَلَٰكِن لَّا يَعْلَمُونَ ⑬

၁၃။ ထို "မွတ်စ်လင်မ်" အသွင်ဆောင်သောသူများအား (အချင်းတို့) အခြား ("မုအ်မင်" များသည် စေတနာ ဖြူစင်စွာဖြင့်) သဒ္ဓါတရား ထားကြသကဲ့သို့ အသင်တို့သည်လည်း ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိကြပါကုန်ဟု ပြောကြားသည့်အခါ၌ ထိုသူတို့က အကျွန်ုပ်တို့သည်လည်း (အသိအလိမ္မာ ဉာဏ်ပညာ ကင်းမဲ့သော) *လူ့ဗာလများ* [၂] ထားရှိသော ယုံကြည်မှု သဒ္ဓါတရားမျိုး ထားကြရမည်လောဟု ပြန်လည် ပြောဆိုကြ၏။ (အို-ကြားနာသူ အပေါင်းတို့) သတိပြုကြကုန်၊ ထိုမွတ်စ်လင်မ် အသွင်ဆောင်သူများသာလျှင် မသိမိုက်မဲသော လူ့ဗာလများဖြစ်ကြ၏၊ သို့ရာတွင် ထိုသူတို့သည် (မိမိတို့ မိုက်မဲကြောင်းကိုပင်) မသိကြချေ။

---

(၁) اَلْمُفْسِدُوْنَ ဟူသောပုဒ်သည် "ပြုပြင်သောသူများ" ဟူသောပုဒ်၏ တိုက်ရိုက်ဆန့်ကျင်သော ဗျတိရေကပုဒ်ဖြစ်၍ ဖျက်ဆီးသောသူများဟု အနက်အဓိပ္ပါယ်ပေးသည်၊

ကုရ်အာန်ကျမ်းမြတ်တွင် "မွတ်စ်လင်မ်"အသွင်ဆောင်သူများအား ဖျက်ဆီးသောသူများဟု ဆိုထားရခြင်း၏အကြောင်းမှာ ထိုသူတို့သည် နည်းပရိယာယ်အမျိုးမျိုးဖြင့် အစ္စလာမ်သာသနာကို စော်ကားခြင်း၊ မွတ်စ်လင်မ်များအား ပျက်စီးရာပျက်စီးကြောင်း ကြံရွယ်ခြင်း၊ အစ္စလာမ်သာသနာတွင်းသို့ ဝင်လိုသူများအား ဟန့်တားခြင်း၊ ဒုစရိုက်မှုများကို ပြုကျင့်ခြင်း၊ ပြည်တွင်းဆူပူမှုများဖြစ်အောင်လှုံ့ဆော်ခြင်းများကြောင့် ဖြစ်လေသည်။ ယေဘုယျအားဖြင့်အဖျက်သမားများသည်မိမိတို့၏ဖျက်ဆီးမှုများကို ပြုပြင်မှုဟူ၍ ယူဆပြောဆိုလေ့ရှိကြသည်မှာ ကမ္ဘာ့ရာဇဝင်တွင် ခေတ်တိုင်းလူမျိုးတိုင်း၌ပင် တွေ့ရှိရလေသည်။ ဤကား အဆန်းမဟုတ်ပေ။

(၂) اَلسُّفَهَآءُ သဒ္ဒါသည်လောကီရေး၌သော်၎င်း၊ လောကုတ္တရာရေး၌သော်၎င်း၊အသိအလိမ္မာ ဉာဏ်ပညာ➤➤

وَإِذَا لَقُوا الَّذِينَ آمَنُوا قَالُوا آمَنَّا وَإِذَا خَلَوْا إِلَىٰ شَيَاطِينِهِمْ قَالُوا إِنَّا مَعَكُمْ إِنَّمَا نَحْنُ مُسْتَهْزِئُونَ ⑭

၁၄။ "မွတ်စ်လင်မ်" အသွင်ဆောင်သောသူများသည် မွတ်စ်လင်မ်များနှင့် တွေ့ဆုံကြသည့်အခါ ဥပါယ်တံမျဉ်ဖြင့် ယုံကြည်ဟန်ပြ၍ အကျွန်ုပ်တို့ သည် (သင်တို့ ယုံကြည်သကဲ့သို့ပင်) ယုံကြည်ကြပါ ၏ ဟု ပြောဆိုကြ၏၊ သို့ ပြောဆို ပြီးသည့်နောက် မိမိတို့၏ (အကြီးအမှူးများဖြစ်သော) သူယုတ် *ပါပိမာများ* [၁] နှင့် ဆိတ်ကွယ်ရာတွင် ထည်းထည်း တွေ့ဆုံကြပြန်သောအခါ အကျွန်ုပ်တို့သည် အသင်တို့ နှင့်အတူ (တသင်းတည်း တဝါဒတည်း)ပင် ဖြစ်ကြပါ၏၊ သို့သော် မုချဧကန် အကျွန်ုပ်တို့သည် (ထို မွတ်စ်လင်မ် များအား) သက်သက် ပြက်ရယ် ကျီစယ် ကရော်ကမည် ပြုသူများသာ ဖြစ်ကြပါ၏ ဟု ဆိုကြပြန်ကုန်၏။

اللَّهُ يَسْتَهْزِئُ بِهِمْ وَيَمُدُّهُمْ فِي طُغْيَانِهِمْ يَعْمَهُونَ ⑮

၁၅။ အလ္လာဟ် အရှင်မြတ်သည် (တုံ့ပြန်သောသဘောဖြင့်) ထို(သူတော်ယောင် ဆောင်သော) သူများအား *ပြက်ရယ်ကျီစယ်တော်မူသည်။* [၂] ထို့ပြင် တဝ ထိုသူတို့ကို မိမိတို့၏ မောက်မာပလွှားမှု၌ ကာလရှည်လျားစွာ လုံ့ထားတော်မူသည်။ သို့ဖြစ်ရာ ထိုသူတို့သည် မမြင်မကန်း တဝေ့လည်လည် ဖြစ်နေကြသည်။

---

>> နည်းသော သူများ၊ အသိတရားမရှိသောသူများ၊ မိုက်မဲသောသူများ၏ အနက်ဟောသည်။ ကြည့်၊ ကုရ်အာန် (၂း၁၄၂၊ ၄း၅ ၊၆း၁၄၀ ၊၇း၆၇)။

(၁) شَيَاطِين သဒ္ဒါသည် အလ္လာဟ်အရှင်မြတ်၏ မဟာကရုဏာတော်မှ ကင်းဝေးသူ "ရှိုင်တွာန်" ဟူသောပုဒ်၏ ဗဟုဝုစ်ကိန်းဖြစ်သည်။

(၂) ဤပါဒတွင် အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့အား ပြက်ရယ် ကျီစယ်တော်မူသည်ဟု မိန့်ဆိုထားခြင်း၏ သဘောမှာ ထိုမသူတော်တို့၏ ပြက်ချော်ကျီစယ်မှုတို့ကို တုံ့ပြန်၍ ထိုက်သည့်အားလျော်စွာ အပြစ်ဒဏ် စီရင်တော်မူခြင်းကို ဆိုလိုသည်။

أُولَٰئِكَ الَّذِينَ اشْتَرَوُا الضَّلَالَةَ بِالْهُدَىٰ فَمَا رَبِحَت تِّجَارَتُهُمْ وَمَا كَانُوا مُهْتَدِينَ ﴿١٦﴾

၁၆။ မှန်ကန်သော (အစ္စလာမ်) သာသနာကို ပေးလှယ်၍ မှောက်မှားသောတရားကို ဝယ်ယူကြ သော အကြင်သူများမှာ ဤသူများပင်၊ ထိုသူများ သည် မိမိတို့၏ (ဤ)ရောင်းဝယ် လဲလှယ်မှု၌ အမြတ် မရရှိသည့်အပြင် တရားရသူများလည်း မဟုတ်ကြချေ။

مَثَلُهُمْ كَمَثَلِ الَّذِي اسْتَوْقَدَ نَارًا فَلَمَّا أَضَاءَتْ مَا حَوْلَهُ ذَهَبَ اللَّهُ بِنُورِهِمْ وَتَرَكَهُمْ فِي ظُلُمَاتٍ لَّا يُبْصِرُونَ ﴿١٧﴾

၁၇။ ထို("မွတ်စ်လင်မ်" အသွင်ဆောင်သော) သူများ၏ ပမာကိုဆိုရသော် လူတစ်ယောက်သည် (တခဲနက် မှောင်အတိကျနေသော ညဥ့်၌ လမ်းကို မြင်နိုင်ခြင်းငှာ) ဆီမီးကို ထွန်းညှိ၏။ ဆီမီးရောင် သည် ထိုသူ၏ ပတ်ဝန်းကျင်ကို လင်းဝင်းစေ၏။ သို့ လင်းဝင်းသည့်အခိုက် အလ္လာဟ်အရှင်မြတ် သည် ထိုသူတို့၏ အလင်းရောင်ကို နုတ်သိမ်းယူ သွားပြီး ထိုသူတို့အား မှောင်တိုက်တွင်းဝယ် ပစ်ပယ် ထား တော်မူရာ ထိုသူတို့သည် တစ်စုံတစ်ခုကိုမျှ မမြင်နိုင် ကြချေ။

صُمٌّ بُكْمٌ عُمْيٌ فَهُمْ لَا يَرْجِعُونَ ﴿١٨﴾

၁၈။ ထို("မွတ်စ်လင်မ် အသွင်ဆောင်သော) သူ များသည် (သဒ္ဓမ္မ တရားကို မကြားနာလိုကြသည့် အတွက်) နားပင်းသူများလည်းမည်၏။ (ပီယဝါစာ နှစ်သက်ဘွယ်ရာဖြစ်သော စကားကို မပြောဆိုလို ကြသည့်အတွက်) ဆွံ့အ သူများလည်း မည်၏။ (နိသမ္မဉာဏ်တည်းဟူသော အမြော်အမြင် ဆင်ခြင် တုံတရား မရှိကြသည့်အတွက်) မျက်စိကန်းသော အန္ဓများလည်းမည်၏။ ထိုကဲ့သို့သော အယောင် ဆောင်များသည် (ဤမျှတိုင် ဆွံ့အ၊နားပင်း၊ မျက်ကန်း များဖြစ်ကြရာ သဒ္ဓမ္မ တရားဘက်သို့) ပြန်လှည့်ကြ မည် မဟုတ်ပေ။

أَوْ كَصَيِّبٍ مِّنَ السَّمَاءِ فِيهِ ظُلُمَٰتٌ وَرَعْدٌ وَبَرْقٌ يَجْعَلُونَ أَصَٰبِعَهُمْ فِىٓ ءَاذَانِهِم مِّنَ الصَّوَٰعِقِ حَذَرَ الْمَوْتِ ۚ وَاللَّهُ مُحِيطٌۢ بِالْكَٰفِرِينَ ﴿١٩﴾

၁၉။ ထို("မွတ်စ်လင်မ်" အသွင်ဆောင်သော) သူများ၏ဥပမာကို တနည်းဆိုရပြန်သော် ထိုသူတို့သည် မိုးတိမ်ဝိုင်းလျက်ရှိသောသူများနှင့်တူကြ၏။ (ဖြစ်အင်ကား) ကောင်းကင်မှ မိုးသက်မုန်တိုင်း[၁] သည် သည်းထန်စွာ ရွာသွန်းလျက်ရှိ၏၊ ထိုမိုးကောင်းကင်တွင် တခဲနက်သော အမိုက်မှောင်များလည်း ဖုံးအုပ်လျက်ရှိ၏၊ (ထို မိုးသက်မုန်တိုင်းနှင့် တပါတည်း ပဲ့တင်ထပ်မျှသော) မိုးချုန်းသံလည်း ပါလာ၏။ ထိုရောအခါ မိုးကြိုးစက်သံများ၏ ပြင်းထန်လှစွာသော အသံကို ကြားရသော ထိုသူယုတ်မာတို့သည် သေရမည့်ဘေးကို စိုးရိမ်ပူပန်ကြောင့်ကြသဖြင့် မိမိတို့၏ နားပေါက်များကို လက်ချောင်းများဖြင့် ပိတ်ဆို့ထားကြ၏။

(အမှန်သော်ကား) အလ္လာဟ်အရှင်မြတ်သည် "ကာဖိရ်" မိစ္ဆာဒိဋ္ဌိကများအား (မိမိ၏အနန္တ ဘုန်းတေဇာဖြင့်) ဝန်းရံခြံလျက်ရှိတော်မူပြီဖြစ်ရာ မည်သူတစ်ဦးတစ်ယောက်မျှ အရှင့်ဘုန်းတေဇာ စက်ကွင်းမှ လွတ်မြောက်၍ ထွက်ခွာသွားနိုင်မည်မဟုတ်ချေ။

يَكَادُ الْبَرْقُ يَخْطَفُ أَبْصَٰرَهُمْ ۖ كُلَّمَآ أَضَآءَ لَهُم مَّشَوْا۟ فِيهِ

၂၀။ လျှပ်ပြက်ရောင်သည် ထို("မွတ်စ်လင်မ်" အသွင်ဆောင်သော) သူများ၏ စက္ခုအာရုံများကို သုတ်ယူသိမ်းဆောင်သွားလု မတတ်ဖြစ်၏။

---

(၁) ဤပုံဆောင်ချက်ကို ထင်ရှားစေဦးအံ့၊ ပုံဆောင်ချက်တွင် "မိုးရေ" ဟူသည် "အစ္စလာမ်သာသနာတော်" ကိုဆိုလို၏၊ "အမိုက်မှောင်များ" ဟူသည် တွေ့ကြုံရမည့် ဘေးဥပဒ်များကိုဆိုလို၏။ "မိုးချုန်းသံ"၊ "မိုးကြိုးစက်သံ" ဟူသည် အလ္လာဟ်အရှင်မြတ်၏ ခြိမ်းခြောက်ချက်များကို ဆိုလို၏၊ "လျှပ်ပြက်ရောင်"ဟူသည် အစ္စလာမ်သာသနာတော်၏ ထင်းလင်းသော သက်သေသာဓကများကို ဆိုလို၏၊ နားများပိတ်ထားကြသည်ဟု ဆိုထားခြင်းမှာ အစ္စလာမ်သာသနာ၏ မှန်သောတရားများကိုသော်လည်းကောင်း၊ မိမိတို့၏ အဖြစ်မှန်များကိုသော်လည်းကောင်း မကြားနာလိုသည်ကိုဆိုလို၏။ ဤပုံဆောင်ချက်နှင့်စပ်လျဉ်း၍ အခြားအနက်ဖွင့်ချက်များကို "အိဗ်နုဂျရီရ်"ကျမ်းတွင် ရှုပါကုန်။

وَإِذَآ أَظْلَمَ عَلَيْهِمْ قَامُوا۟ ۚ وَلَوْ شَآءَ ٱللَّهُ لَذَهَبَ بِسَمْعِهِمْ وَأَبْصَٰرِهِمْ ۚ إِنَّ ٱللَّهَ عَلَىٰ كُلِّ شَىْءٍ قَدِيرٌ ٢٠

လျှပ်ပြက်ရောင်သည် ထိုသူတို့အဘို့ (သွားရာလမ်းကို) လင်းဝင်းစေတိုင်း ထိုသူများသည် (အလင်းရောင်ကိုမှီ၍) သွားလာကြ၏။ တဖန် အလင်းရောင်ကွယ်ပျောက်၍ အမိုက်မှောင်ကျရောက်လာသောအခါ ထိုသူတို့သည် ရပ်တန့်၍ နေကြကုန်၏။ အကယ်၍သာ အလ္လာဟ်အရှင်မြတ်အလိုရှိတော်မူခဲ့ပါက မုချဧကန် ထိုသူတို့၏သောတာရုံများနှင့် စက္ခုအာရုံများကို နုတ်သိမ်းယူသွားတော်မူချေပြီ။ ဧကန်မုချ အလ္လာဟ် အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ပြုစွမ်းနိုင်တော်မူထသောအရှင်ဖြစ်တော်မူသည်။

يَٰٓأَيُّهَا ٱلنَّاسُ ٱعْبُدُوا۟ رَبَّكُمُ ٱلَّذِى خَلَقَكُمْ وَٱلَّذِينَ مِن قَبْلِكُمْ لَعَلَّكُمْ تَتَّقُونَ ٢١

၂၁။ အို-လူသားအပေါင်းတို့၊ အသင်တို့သည် မိမိတို့အားမွေးမြူတော်မူထသော (အလ္လာဟ်အရှင်မြတ်)ကို ခဝပ်ကိုးကွယ်ကြကုန်။ [၁] ထိုအရှင်သည် အသင်တို့ကိုလည်းကောင်း၊ အသင်တို့အလျင် အထက်ထက်အဆက်ဆက်ကရှိခဲ့ဘူးသော ရှေးပဝေဏီလူဟောင်းများကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသောအရှင်ဖြစ်သည်။ ထိုသို့ ခဝပ်ကိုးကွယ်ကြမှသာလျှင် အသင်တို့သည် (ဒုစရိုက်မှုများကို) ကြဉ်ရှောင်သောသူတော်သူစင်များ ဖြစ်တန်ကြရာသတည်း။

---

(၁) အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းကိုသာ ခဝပ်ကိုးကွယ်ရခြင်းသည် အစ္စလာမ်သာသနာ၏ အဓိကသစ္စာတရားဖြစ်သည်။ ထိုအရှင်သည် သတ္တဝါတို့အား အကြောင်းမဲ့ ဖန်ဆင်းထားတော်မူခဲ့သည်မဟုတ်၊ မိမိအား ခဝပ်ကိုးကွယ်ရန်အလို့ငှာ ဖန်ဆင်းတော်မူ၏။ ကြည့်၊ ကုရ်အာန် (၅၁ : ၅၆)။

ဤပါဒတွင် မွေးမြူစောင့်ရှောက်တော်မူသော အရှင်ကိုသာလျှင် ခဝပ်ကိုးကွယ်ရမည်ဟု အတိအလင်းမိန့်တော်မူထားလေသည်။ ဤသို့ မိန့်ရှိထားသည့်အတိုင်း လိုက်နာသူများသည် လောကီလောကုတ္တရာအကျိုးကို မုချခံစားကြရမည်သာတည်း။ သို့သော် ယခုခေတ်၌ လူသားတို့သည် မိမိတို့အား အရာခပ်သိမ်း၌ စောင်မနိုင်သော အရှင်ကိုမေ့၍ လောကီဂုဏ်အင်ဒြပ်နှင့်ပြည့်စုံသော သာမန်လူသားတို့အား အားထားနေကြသည်။ ဤကဲ့သို့ အားထားခြင်းသည် အကျိုးအားဖြင့် အချည်းနှီးသာဖြစ်ပေမည်။

الَّذِي جَعَلَ لَكُمُ الْأَرْضَ فِرَاشًا وَالسَّمَاءَ بِنَاءً وَأَنْزَلَ مِنَ السَّمَاءِ مَاءً فَأَخْرَجَ بِهِ مِنَ الثَّمَرَاتِ رِزْقًا لَكُمْ فَلَا تَجْعَلُوا لِلَّهِ أَنْدَادًا وَأَنْتُمْ تَعْلَمُونَ ﴿٢٢﴾

၂၂။ အလ္လာဟ်အရှင်မြတ်သည် အသင်တို့ (နေထိုင်သွားလာနိုင်ရန်အလို့ငှာ) ဤပထဝီမြေပြင်ကို အခင်းအဖြစ်လည်းကောင်း၊ မိုးကောင်းကင်ကို အမိုးအဖြစ်လည်းကောင်း၊ ပြုလုပ်ပေးသနားတော်မူ၍ ယင်းမိုးကောင်းကင်မှပင် မိုးရွာသွန်းစေပြီး ထိုမိုးရေဖြင့် ကောက်ပဲသီးနှံအမျိုးမျိုးတို့ကို အသင်တို့အဘို့ ရိက္ခာအဖြစ် ပေါက်ရောက်စေတော်မူ၏၊ သို့ဖြစ်ရာ အသင်တို့သည် (အနန္တကျေးဇူးတော်ရှင်ဖြစ်တော်မူထသော) အလ္လာဟ်အရှင်မြတ်နှင့် မည်သည့်အရာကိုမျှတွဲဘက်၍ ခဝပ်ကိုးကွယ်ခြင်းကို အလျှင်းမပြုကြလင့်၊ (သို့အလ္လာဟ်အရှင်မြတ်နှင့် တွဲဘက်၍ ခဝပ်ကိုးကွယ်ခြင်း မပြုအပ်သည့် အကြောင်းကို) အသင်တို့ ကိုယ်တိုင်လည်းအသိပင် ဖြစ်ကြသည်။

وَإِنْ كُنْتُمْ فِي رَيْبٍ مِمَّا نَزَّلْنَا عَلَىٰ عَبْدِنَا فَأْتُوا بِسُورَةٍ مِنْ مِثْلِهِ وَادْعُوا شُهَدَاءَكُمْ مِنْ دُونِ اللَّهِ إِنْ كُنْتُمْ صَادِقِينَ ﴿٢٣﴾

၂၃။ ငါ၏အစေတော် [နဗီတမန်တော် မုဟမ္မဒ် (ဆွ)] အထံသို့ ငါအရှင်ထုတ်ပြန်ပို့ချတော်မူသော ကုရ်အာန်ကျမ်းမြတ်နှင့် စပ်လျဉ်း၍ *အကယ်၍ အသင်တို့(စိတ်၌) ယုံမှား သံသယ*[၁] ဒွိဟရှိခဲ့ပါလျှင် ထိုကျမ်းမြတ်နှင့်အလားတူ ကဏ္ဍတစ်ခုမျှ (စီကုန်းရေးသား၍) ယူဆောင်လာကြကုန်လော့။

အကယ်၍ အသင်တို့သည် (သစ္စဝါဒီ) မှန်ကန်သော စကားပြောဆိုသူများ ဖြစ်ကြပါလျှင် သို့စီကုံး ရေးသားရာ၌ အလ္လာဟ်အရှင်မြတ်နှင့် ပြိုင်ဆိုင်၍ အသင်တို့အား ကူညီယိုင်းပင်းမည့် သူများကိုလည်း ခေါ်ဆောင်လာကြကုန်လော့။

---

(၁) ကုရ်အာန်ကျမ်းမြတ်သည် နဗီတမန်တော် မုဟမ္မဒ်(ဆွ)အထံသို့ ထုတ်ပြန်ပို့ချတော်မူသော အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်အစစ်အမှန်ဖြစ်သည်။ နဗီတမန်တော် မုဟမ္မဒ် (ဆွ)စီရင် ရေးသားအပ်သော ကျမ်းဂန် အလျှင်းမဟုတ်ပေ။

>>

فَإِن لَّمْ تَفْعَلُوا وَلَن تَفْعَلُوا فَاتَّقُوا النَّارَ الَّتِي وَقُودُهَا النَّاسُ وَالْحِجَارَةُ ۖ أُعِدَّتْ لِلْكَافِرِينَ ﴿٢٤﴾

၂၄။ အသင်တို့သည် ကုရ်အာန် ကျမ်းမြတ်နှင့် ယှဉ်ပြိုင်ခြင်းများကို အတိတ်ကာလတွင် မလုပ်နိုင်ခဲ့ကြ၊ ယခုမျက်မှောက် ပစ္စုပ္ပန်ကာလတွင် လုပ်နိုင်ကြသည်လည်းမဟုတ်၊ နောင်အနာဂတ်ကာလတွင်လည်း အလျှင်းလုပ်နိုင်ကြမည် မဟုတ်ပေ၊ သို့ဖြစ်ရာ အသင်တို့သည် နိရယငရဲမီးဘေးမှ ဝေးစွာရှောင်ရှားကြကုန်၊ ထိုမီး၏မီးစာမှာ (အယူမှောက်မှားသော) "ကာဖိရ်" မိစ္ဆာဒိဋ္ဌိကများနှင့် (ထိုမိစ္ဆာဒိဋ္ဌိကများ ဆည်းကပ်ကိုးကွယ်ကြသည့်) ကျောက်တုံးများ ဖြစ်ချေသည်။ ထိုမီးသည် "ကာဖိရ်" များအဘို့ အသင့်ပြုလုပ်ထားရှိပြီး ဖြစ်ပေသည်။

وَبَشِّرِ الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ أَنَّ لَهُمْ جَنَّاتٍ تَجْرِي مِن تَحْتِهَا الْأَنْهَارُ ۖ

၂၅။ (အို-နဗီတမန်တော်) အသင်သည် "အီမာန်" ယုံကြည်ခြင်းသဒ္ဓါတရားထားရှိ၍ ကောင်းမြတ်သော အကျင့် သီလများကို ဆောက်တည်ကြကုန်သော "မုအ်မင်" များအား ပီတိသောမနဿ ဖြစ်စေသော မင်္ဂလာသတင်းကို ပေးလေလော့၊ ဧကန်ဆတ်ဆတ် ထိုသို့သော သီလဝန္တ ပုဂ္ဂိုလ်များ (စံစားနေထိုင်ရန် အလို့ငှာ) *"ဂျန္နတ်" အမတသုခဘုံများ* [၁] သည် အသင့်ရှိ၏။ ထိုသုခဘုံများအောက်၌ စမ်းရေချောင်းများလည်း (အယဉ်တွေတွေ) စီးဆင်းလျက်ရှိ၏။

---

➤➤ ကုရ်အာန်ကျမ်းမြတ်ကို ယှဉ်ပြိုင်လိုက ယှဉ်ပြိုင်ကြဟု ကြုံးဝါးထားရှိငြားသော်လည်း ယနေ့ထက်တိုင် တစ်ကျမ်းလုံးကိုထားဘိဦး၊ တစ်ကဏ္ဍတစ်ပါဒမျှ ယှဉ်ပြိုင်နိုင်သူဟူ၍ တစ်ဦးတစ်ယောက်မျှ မပေါ်ပေါက်သေးပေရာ ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်အရှင်မြတ်ထံမှ ကျရောက်လာသော ကျမ်းဂန်အစစ်ဖြစ်ကြောင်းကို ငြင်းဆိုနိုင်ဘွယ်ရာ အကြောင်းအလျှင်းမရှိပေ။

(၁) (جَنَّاتٍ) သည် (جَنَّةٌ) ၏ ဗဟုဝုစ်ကိန်းဖြစ်သည်၊ (جَنَّةٌ) သဒ္ဒါသည် သစ်ပင်များဖြင့် ဝေဝေဆာဆာ ဖုံးအုပ်လျက်ရှိသော ဥယျာဉ်၏အနက်ကိုဟောသည်။ ထိုမှတဆင့် အလ္လာဟ်အရှင်မြတ် ဖန်ဆင်းထားတော်မူအပ်သော အမတသုခဘုံကိုလည်း (جَنَّةٌ) ဟူ၍မှည့်ခေါ်သည်။ မွတ်စ်လင်မ် သူတော်စင်များသည် မိမိတို့ ပြုကျင့်ခဲ့သမျှသော ကုသိုလ်တရားများနှင့်အညီ နောင်တမလွန်ဘဝတွင် "ဂျန္နတ်" သုခဘုံများ၌ ခံစားကြရပေမည်။ ယင်းသုခဘုံများတွင် အလွန်သာယာသော ရှုမျှော်ခင်းများ၊ ဥယျာဉ်ပန်းမာလ်များ၊ ➤➤

كُلَّمَا رُزِقُوا مِنْهَا مِنْ ثَمَرَةٍ رِّزْقًا ۙ قَالُوا هٰذَا الَّذِي رُزِقْنَا مِنْ قَبْلُ وَأُتُوا بِهٖ مُتَشَابِهًا ۖ وَلَهُمْ فِيهَا أَزْوَاجٌ مُّطَهَّرَةٌ ۖ وَّهُمْ فِيهَا خٰلِدُونَ ﴿٢٥﴾

သုခဘုံသားများအား ထိုသုခဘုံ၏ သစ်သီးဝလံများကို တည်ခင်းကျွေးမွေးသည့် အခါတိုင်း၌ "အကျွန်ုပ်တို့သည် ဤသစ်သီးဝလံမျိုးကို ယခင်ကလည်း စားသုံးရဘူးပြီ" ဟု ဆိုကြအံ့၊ ထိုနောက် ထိုသုခဘုံသားများသည် (ရသာခြားနား၍) သဏ္ဌာန်တူမျှသော သစ်သီးဝလံများ တည်ခင်းကျွေးမွေးခြင်းကိုလည်း ခံစားကြရဦးအံ့၊ ထိုသုခဘုံသားများအတို့ ထိုသုခဘုံတွင် သန့်စင်သောကြင်ရာကြင်ဖက်များသည်လည်း ရှိဦးအံ့၊ ထို့ပြင်တဝ ထိုသုခဘုံသားများသည် ထိုသုခဘုံများ၌ ထာဝစဉ်စံစားကြရအံ့။

إِنَّ اللّٰهَ لَا يَسْتَحْيِۦٓ أَنْ يَّضْرِبَ مَثَلًا مَّا بَعُوضَةً فَمَا فَوْقَهَا ۚ فَأَمَّا الَّذِينَ آمَنُوا فَيَعْلَمُونَ أَنَّهُ الْحَقُّ مِنْ رَّبِّهِمْ ۚ وَأَمَّا الَّذِينَ كَفَرُوا فَيَقُولُونَ مَاذَا أَرَادَ اللّٰهُ بِهٰذَا مَثَلًا ۘ يُضِلُّ بِهٖ كَثِيرًا وَّيَهْدِي بِهٖ كَثِيرًا ۚ

၂၆။ အလ္လာဟ်အရှင်မြတ်သည် ခြင်ကောင်နှင့်ဖြစ်စေ၊ ခြင်ကောင်ထက် သေးငယ်သောအရာနှင့်ဖြစ်စေ၊ ပုံဆောင်ခြင်းကို (သေးနုပ်သည် ဟူ၍) ရှက်တော်မမူချေ။ ယုံကြည်သော "မုအ်မင်" များသည် ထိုပုံဆောင်ချက်ကို မိမိတို့အား မွေးမြူတော်မူသော အရှင့်ထံတော်မှ လျော်ကန် သင့်မြတ်လှသော ပုံဆောင်ချက် ဖြစ်သည်ဟူ၍ သိနားလည်ကြသည်။ "ကာဖိရ်" မိစ္ဆာဒိဋ္ဌိက တို့မှာမူ အလ္လာဟ် အရှင်မြတ်သည် ဤမျှသေးနုပ်သော အရာကို ပုံဆောင်ခြင်းအားဖြင့် မည်သို့သော အကြောင်းအရာကို ရည်စူးတော် မူပါသနည်းဟု (ပြက်ရယ်) ပြောဆိုကြလေသည်။ အလ္လာဟ်အရှင်သည် ထိုကဲ့သို့သော ပုံဆောင်ချက်ဖြင့် များစွာသောသူများကို လမ်းမှားသို့ ပို့ဆောင်တော်မူ၍ များစွာသောသူများကိုကား တရားလမ်းမှန်သို့ ညွှန်ကြား ပြသတော်မူသည်။

➤➤ အယဉ်တွေတွေ စီးတွေလျက်ရှိသော စမ်းချောင်းများ၊ စားသုံးရန်အတို့ အေးမြ ချိုဆိမ့်သော ခဲဘွယ်ဘောဇဉ်များ၊ လှပသော ကညာများလည်း အသင့်ရှိကြကုန်၏၊ ဆိုလိုသည်ကား အမတ သုခဘုံတွင် မကြားဘူး၊ မမြင်ဘူး၊ မတွေးဘူးသော စည်းစိမ်များသည် လိုလေသေးမရှိ အပြည့်အစုံရှိ၏ဟူလို။

وَمَا يُضِلُّ بِهٖٓ اِلَّا الْفٰسِقِيْنَ ﴿٢٦﴾

အမှန်စင်စစ်သော်ကား ထိုကဲ့သို့သော ပုံဆောင်ချက်ဖြင့် အလ္လာဟ်အရှင်မြတ်သည် မိမိအမိန့်တော်ကို မနာခံသော မသူတော်(ဒုဇ္ဇန)များမှအပ အခြားမည်သူကိုမျှ လမ်းမှားသို့ ပို့ဆောင်တော်မူသည်မဟုတ်ချေ။

الَّذِيْنَ يَنْقُضُوْنَ عَهْدَ اللّٰهِ مِنْۢ بَعْدِ مِيْثَاقِهٖ ۖ وَيَقْطَعُوْنَ مَآ اَمَرَ اللّٰهُ بِهٖٓ اَنْ يُّوْصَلَ وَيُفْسِدُوْنَ فِى الْاَرْضِ ۗ اُولٰٓئِكَ هُمُ الْخٰسِرُوْنَ ﴿٢٧﴾

၂၇။ ထို(သူယုတ်မာ)တို့သည် အလ္လာဟ်အရှင်မြတ်နှင့် ခိုင်မာစွာ ပဋိညာဉ်သစ္စာထားကြပြီးသည့်နောက် ထိုပဋိညာဉ်ကို ဖောက်ဖျက်ကြ၏၊ (အချင်းချင်း) ရင်းနှီးစွာ ပေါင်းသင်းဆက်ဆံရန် အမိန့်တော်ချမှတ်ထားသည်ကိုလည်း လိုက်နာကြသည်မရှိ၊ အဆက်ဖြတ်ကြ၏။ ထို့ပြင်တဝထိုသူတို့သည် ကမ္ဘာမြေပြင်၌လည်း (ကမ္ဘာသူကမ္ဘာသားတို့၏) ပျက်စီးရာပျက်စီးကြောင်းကို ပြုလုပ်ကြ၏။ (စင်စစ်မှာကား) ထိုသူများသည် ဆုံးရှုံးပျက်စီးသူများသာ ဖြစ်ကြပေသတည်း။

كَيْفَ تَكْفُرُوْنَ بِاللّٰهِ وَكُنْتُمْ اَمْوَاتًا فَاَحْيَاكُمْ ۚ ثُمَّ يُمِيْتُكُمْ ثُمَّ يُحْيِيْكُمْ ثُمَّ اِلَيْهِ تُرْجَعُوْنَ ﴿٢٨﴾

၂၈။ (ဟယ်-မိစ္ဆာဒိဋ္ဌိကတို့)အသင်တို့သည် အဘယ်နည်းဖြင့် အလ္လာဟ်အရှင်မြတ်(၏ကျေးဇူးတော်များ)ကိုငြင်းဆိုနိုင်ကြအံ့နည်း၊ အဖြစ်မှန်ကား အသင်တို့သည် (ရှေးဦးမဆွပဋ္ဌမက)(အဝိညာဏက) သက်မဲ့အရာဝတ္ထုများသာဖြစ်ကြရာ ထိုအရှင်သည် အသင်တို့အား (သဝိညာဏက)သက်ရှိဘဝသို့ ပို့ဆောင်တော်မူ၏။ ထိုနောက်တဖန် ထိုအရှင်သည် (အသင်တို့၏ သက်တမ်းကုန်ဆုံးသည့်အခါ) သင်တို့အား သေစေတော်မူဦးမည်ဖြစ်၏။ သို့သေစေတော်မူပြီးသည့်နောက် ထိုအရှင်သည်အသင်တို့အား တဖန်ရှင်ပြန်ထစေဦးမည်။ ထို့နောက် အသင်တို့သည် (မိမိတို့ပြုကျင့်ခဲ့သမျှသော ကောင်းမှုမကောင်းမှုများနှင့်လျော်ညီစွာထိုက်တန်ရာ အကျိုးများကိုခံစံရန်အလို့ငှာ)ထိုအရှင့်ထံတော်သို့ပင်လျှင် ပြန်လည်ရောက်ကြရမည်။

هُوَ الَّذِي خَلَقَ لَكُم مَّا فِي
الْأَرْضِ جَمِيعًا ثُمَّ اسْتَوَىٰ
إِلَى السَّمَاءِ فَسَوَّاهُنَّ سَبْعَ
سَمَاوَاتٍ ۚ وَهُوَ بِكُلِّ شَيْءٍ
عَلِيمٌ ﴿٢٩﴾

၂၉။ ထို(အလ္လာဟ်)အရှင်မြတ်သည် သင်တို့ အကျိုးအလို့ငှာ ပထဝီမြေတွင် ရှိရှိသမျှသော ဝတ္ထု အစုစုကို ဖန်ဆင်းတော်မူ၏။ ထို့နောက် ထိုအရှင်သည် မိမိ ဆန္ဒတော်အတိုင်း မိုးကောင်းကင် ဘက်သို့ လှည့်တော်မူ၍ မိုးခုနစ်ထပ်ကို နေထား ကျနစွာ ပြုလုပ် တော်မူ၏၊ စင်စစ်တမူကား ထိုအရှင်သည် (သဗ္ဗညူ) အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသောအရှင် ဖြစ်တော်မူသည်။

وَإِذْ قَالَ رَبُّكَ لِلْمَلَائِكَةِ إِنِّي
جَاعِلٌ فِي الْأَرْضِ خَلِيفَةً ۖ قَالُوا
أَتَجْعَلُ فِيهَا مَن يُفْسِدُ فِيهَا
وَيَسْفِكُ الدِّمَاءَ وَنَحْنُ
نُسَبِّحُ بِحَمْدِكَ وَنُقَدِّسُ
لَكَ ۖ قَالَ إِنِّي أَعْلَمُ
مَا لَا تَعْلَمُونَ ﴿٣٠﴾

၃၀။ (အို-နဗီတမန်တော်၊ အသင်သည် ပြန်လည် စဉ်းစား သတိရလော့) တရံရောအခါ အသင့်အား မွေးမြူတော်မူသောအရှင်က (မိမိ၏) အပါးတော် စေတမန်များအား “ဧကန်အမှန် ငါအရှင်သည် ကမ္ဘာပေါ်ဝယ် (ငါ၏အမိန့်အာဏာတော်များကို ထုတ်ပြန်ကျေညာရန် အလို့ငှာ လူတို့၏ဘခင်) အာဒမ် (အ)အား (ငါ၏)ကိုယ်စားလှယ်တော်အဖြစ် မြှောက် စားခန့်အပ်တော်မူမည်” ဟု မိန့်ကြားတော်မူသည်။ ထိုအခါ အပါးတော်စေတမန်များက (ဤသို့) လျှောက်တင် ပန်ကြားကြကုန်၏။ “(အို-အရှင်) ကမ္ဘာမြေပြင်၌ ပျက်စီးရာပျက်စီးကြောင်း ပြုလုပ်၍ အချင်းချင်း သတ်ဖြတ်ပြီး သွေးထွက်သံယို ပြုလုပ် ကြမည့်သူများကို ကိုယ်တော်အရှင်သည် (ဖန်ဆင်း တော်မူ၍ မိမိကိုယ်စားလှယ်တော်အဖြစ်) မြှောက်စား ခန့်အပ်တော်မူပါမည်လော၊ အမှန်စင်စစ် ကိုယ်တော် အရှင်သည် ချို့တဲ့ခြင်းအပေါင်းတို့မှ လုံးဝ သန့်ပြန့် စင်ကြယ်တော် မူကြောင်းကို ကျွန်တော်မျိုးတို့သည် သာလျှင် အမြဲအောက်မေ့ တသကြပါ၏။ ကိုယ်တော် အရှင်မြတ်၏ ဂုဏ်တော်များကို ချီးမွမ်းထောမနာ ပြု၍ အစဉ်အမြဲ ဘာဝနာစီးဖြန်းကြပါ၏။”

ထိုအခါ အလ္လာဟ်အရှင်မြတ်က (အပါးတော် စေတမန် အပေါင်းတို့) အသင်တို့မသိနားမလည်သော အကြောင်း အချက်များကို ငါသာလျှင် မုချ သိတော်မူသည်ဟု ပြန်လည် ဖြေကြားတော် မူလေသည်။

وَعَلَّمَ آدَمَ الْأَسْمَاءَ كُلَّهَا ثُمَّ عَرَضَهُمْ عَلَى الْمَلَائِكَةِ فَقَالَ أَنْبِئُونِي بِأَسْمَاءِ هَٰؤُلَاءِ إِنْ كُنْتُمْ صَادِقِينَ ﴿٣١﴾

၃၁။ အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာဦးဘခင် *အာဒမ်(အ)* [၁] အား အရာဝတ္ထုများ၏ အမည်နာမ အားလုံးတို့ကို သင်ကြားပေးသနားတော်မူ၏။ သို့ သင်ကြားပြီးသည့်နောက် အလ္လာဟ်အရှင်မြတ်သည် ထိုအမည်ပါ ဝတ္ထုအစုစုကို အပါးတော်စေတမန်များ၏ ရှေ့ဝယ်၌ပြတော်မူ၍ ဤသို့မိန့်တော်မူ၏၊ (အပါးတော် စေတမန် အပေါင်းတို့) အကယ်၍ အသင်တို့သည် မှန်ကန်သောစကားကို ပြောဆိုသောသူများဖြစ်ကြ ပါလျှင် ဤအရာဝတ္ထုများ၏ အမည်နာမများကို ငါ့အား (သေချာဂနစွာ) တင်လျှောက်ကြကုန်။

قَالُوا سُبْحَانَكَ لَا عِلْمَ لَنَا إِلَّا مَا عَلَّمْتَنَا إِنَّكَ أَنْتَ الْعَلِيمُ الْحَكِيمُ ﴿٣٢﴾

၃၂။ အပါးတော်စေတမန်များက (အလ္လာဟ်အရှင် မြတ်၏အထံတော်၌ ဤသို့လျှောက်ထားကြကုန်သည်) အို-အရှင်၊ ကိုယ်တော်အရှင်မြတ်သည် ချို့တဲ့ခြင်း အပေါင်းတို့မှ သန့်ရှင်းစင်ကြယ်တော်မူသောအရှင် ဖြစ်တော်မူပါသည်။ ကိုယ်တော်အရှင် သင်ကြားပေး သနားတော်မူသော ပညာရပ်များမှအပ ကျွန်တော်မျိုး တို့အဘို့မှာ အခြားအသိတရားဟူ၍ အလျင်းမရှိပါ။ ဧကန်မုချ ကိုယ်တော် အရှင်သည်သာလျှင် အရာ ခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော်မူသောအရှင်၊ ကျိုးကြောင်းဆင်ခြင်တုံ တရားနှင့် ပြည့်စုံတော်မူသော အရှင် ဖြစ်တော်မူပါသတည်း။

---

(၁) လူ့လောကတွင် အဦးအစ ပဌမလူကား အာဒမ်(အ)ပင်ဖြစ်သည်၊ လူသားအားလုံးတို့၏ ဘခင်ဦး ဖြစ်ခြင်း ကြောင့် အာဒမ်(အ)ကို “လူတို့၏အဘ” ဟူ၍လည်း ခေါ်ဆိုကြသည်။ အာဒမ်(အ)သည် အဦးအစ ပဌမလူဖြစ်သည့် အားလျော်စွာ ကမ္ဘာ့နာယကဂုဏ်ကိုလည်း ဦးစွာပဌမ ခြီးမြှင့်ခြင်း ခံခဲ့ရလေသည်။

قَالَ يٰٓاٰدَمُ اَنۡۢبِئۡهُمۡ بِاَسۡمَآئِهِمۡ‌ۚ فَلَمَّاۤ اَنۡۢبَاَهُمۡ بِاَسۡمَآئِهِمۡۙ قَالَ اَلَمۡ اَقُلۡ لَّـكُمۡ اِنِّىۡٓ اَعۡلَمُ غَيۡبَ السَّمٰوٰتِ وَالۡاَرۡضِۙ وَاَعۡلَمُ مَا تُبۡدُوۡنَ وَمَا كُنۡتُمۡ تَكۡتُمُوۡنَ ۝٣٣

၃၃။ အလ္လာဟ် အရှင်မြတ်က အို-အာဒမ်၊ အသင်သည် ထိုအပါးတော်စေတမန်များအား ထို အရာဝတ္ထုများ၏ အမည်နာမများကို ထုတ်ဖော်၍ ပြောပြပါလေဟု မိန့်ကြားတော်မူရာ [(ကမ္ဘာဦးဘခင်) အာဒမ်(အ)သည် အပါးတော်စေတမန်များအား ထို အရာဝတ္ထုအသီးသီးတို့၏ အမည်နာမများကို (သေချာစွာ) ထုတ်ဖော်၍ ပြောပြလေ၏။] သို့ပြော ပြပြီးသည့်အခါ အလ္လာဟ်အရှင်မြတ်သည် အပါးတော် စေတမန်များအား ဤသို့ မိန့်ကြားတော်မူ၏၊ (အပါးတော် စေတမန်အပေါင်းတို့) ငါအရှင်သည် မိုးကောင်းကင်များနှင့် ပထဝီမြေပြင်၌ ဖုံးကွယ်လျက် ရှိသော အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော် မူသည်ဟု သင်တို့အား မိန့်ကြားခဲ့ဘူးသည် မဟုတ် လော။ ထို့ပြင်တဝ ငါအရှင်သည် အသင်တို့ ထုတ်ဖော်ပြောဆိုသည် များကိုလည်းကောင်း၊ လျှို့ဝှက် ဖုံးကွယ်ထိန်ချန် ထားရှိခဲ့ကြသည့် အရာများကို လည်းကောင်း အကြွင်းမဲ့သိတော်မူသည်။

وَاِذۡ قُلۡنَا لِلۡمَلٰٓئِكَةِ اسۡجُدُوۡا لِاٰدَمَ فَسَجَدُوۡٓا اِلَّاۤ اِبۡلِيۡسَؕ اَبٰى وَاسۡتَكۡبَرَ

၃၄။ (ပြန်လည်အောက်မေ့ သတိရကြကုန်လော့) တရံရောအခါ ငါအရှင်သည် အပါးတော်စေတမန် များအား အသင်တို့သည် ကမ္ဘာဦးဘခင် အာဒမ်ကို *ဦးချကြကုန်* [၁] ဟု မိန့်ကြားတော်မူသည်။ (ထိုအခါ) "အိဗ်လီစ်" မှအပ ကျန်အားလုံးသော အပါးတော် စေတမန်များသည် (ကမ္ဘာဦးဘခင်) အာဒမ်(အ)အား ဦးချကြကုန်၏။

(၁) "စုဂျူဒ်" သဒ္ဒါသည် အဘိဓာန်သဘောအားဖြင့် ရိုကျိုးခြင်း၊ ကျိုးနွံခြင်း၊ အနက်ကိုဟောသည်။ ထို့နောက် ယင်းပုဒ်သည် အလ္လာဟ်အရှင်မြတ်အား ခယရိုကျိုးရှိခိုးခြင်းအတွက် အသုံးဖြစ်လာချေသည်။

အလ္လာဟ်အရှင်မြတ်အား ရိုကျိုးခြင်းသည် နှစ်မျိုးနှစ်စားရှိ၏၊[၁] မိမိသဘောအလျောက် ကြည်သာစွာ ရိုကျိုးခြင်း၊[၂] မလွှဲမရှောင်သာ၍ ရိုကျိုးခြင်း။ မိမိသဘောအလျောက် ကြည်သာစွာ ရိုကျိုးခြင်းသည် ➤➤

➤➤ လူသားတို့နှင့်သာ သက်ဆိုင်၏၊ သို့ရှိကျိုးခြင်းဖြင့် ကုသိုလ်အကျိုးကိုလည်း ခံစားကြရ၏။ မလွဲမရှောင်သာ၍ ရှိကျိုးခြင်းဟူသည်ကား သက်ရှိသက်မဲ့ ကမ္ဘာတန်ဆာပလာ အားလုံးတို့နှင့် သက်ဆိုင်ပေသည်။ သို့ရှိကျိုးခြင်းအကြောင်းကို ကုရ်အာန်ကျမ်းမြတ် (၁၃ : ၁၅၊ ၁၆ : ၄၉၊ ၂၂ : ၁၈၊ ၅၅ : ၆)တွင် တွေ့ရှိနိုင်သည်။ ကြည့် "ရာဃိဗ်"။

**ဖော်ပြချက်။**

(က) ကုရ်အာန်ကျမ်းမြတ်တွင် အချို့နေရာများ၌ "စုဂျူဒ်" ဟူသောပုဒ်ကို "ဆွလာတ်" ဝတ်ပြုခြင်းအနက်၌ အသုံးပြုထားသည်ကို တွေ့ရှိရသည်။ ကြည့်၊ ကုရ်အာန် (၅၀ : ၄၀)။

(ခ) အစ္စလာမ်သာသနာတော်၏ "ရှရီအတ်" ပဋိပတ်ကျင့်စဉ်အရ "ဆွလာတ်" ဝတ်ပြုရာ၌ အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ရန် ရည်စူးပြီး မြေနှင့် နဖူးထိလျက် ဦးချခြင်းကိုလည်း "စုဂျူဒ်" ဟုခေါ်သည်။ ကြည့်၊ ရာဃိဗ်။

ဤပါဒတွင် (اُسْجُدُوْا لِاٰدَمَ) ဟူသောဝါကျကို အဋ္ဌကထာရှင်များသည် အောက်ပါအတိုင်း အမျိုးမျိုးအနက်ဖွင့်ကြသည်။

(က) အသင်တို့သည် အာဒမ်(အ)ဘက်သို့ မျက်နှာမူ၍ ဦးချကြကုန်။ အာဒမ်(အ)သည် မျက်နှာမူရာ အရပ်မျှသာဖြစ်သည်။ (အသင်တို့၏) ဦးချခြင်းအမှုမှာကား အလ္လာဟ် အရှင်မြတ်ကို (ရည်ရွယ်၍) ပြုသောအမှုသာတည်း။

ယနေ့ကမ္ဘာ့အရပ်ရပ်ရှိ မွတ်စ်လင်မ်တို့သည် "ကအ်ဗဟ်" ကျောင်းတော်ဘက်သို့ မျက်နှာမူ၍ အလ္လာဟ်အရှင်မြတ်အား ဦးချကြရာ ကျောင်းတော်ကို ဦးချကြသည်မဟုတ်။ ကျောင်းတော်သည် မျက်နှာမူရာ အရပ်မျှသာဖြစ်သည်။ ထိုနည်းအတူ အပါးတော်စေတမန်များသည်လည်း အာဒမ်(အ)ဘက်သို့ မျက်နှာမူ၍ အလ္လာဟ် အရှင်မြတ်အား ဦးချကြကုန်၏။ အာဒမ်(အ)အား ဦးချကြသည်မဟုတ်။ အာဒမ်(အ)သည် မျက်နှာမူရာ အရပ်မျှသည် ဖြစ်သည်ဟူလို။

(ခ) အပါးတော်စေတမန်များက အာဒမ်(အ)အား ဦးချခြင်းမှာ အလ္လာဟ်အရှင်မြတ်၏အမိန့်တော်ကို မြေဝယ်မကျနာခံ၍ အာဒမ်(အ)အား အလေးပြုခြင်း၊ ကန်တော့ခြင်းမျှသာ ဖြစ်သည်။ အာဒမ်(အ)အား ခဝပ်ကိုးကွယ်ခြင်းမဟုတ်။

**လူသားတို့၏မြင့်မြတ်ခြင်း။**

သုတေသီတို့သည် ဤပါဒ(၂:၃၄)ကို တွေးဆဆင်ခြင်ပါက ကမ္ဘာ့နာယက အာဒမ်(အ)သည် အပါးတော် စေတမန်များထက်ပင် မြင့်မြတ်ကြောင်း၊ ပညာဉာဏ်သည် အဘိုးအနဂ္ဃ ထိုက်တန်ကြောင်းကို ထင်ရှားစွာ တွေ့ရှိနိုင်ပေသည်။ လူသည် ကမ္ဘာ့သခင်ဖြစ်ကြောင်းနှင့် စပ်လျဉ်း၍ သက်သေသာဓကေ ထုတ်ဖော်ပြရန်ပင်မလိုပေ၊ သို့သော် လူသည် အဘယ်အစွမ်းများကြောင့် ဤကမ္ဘာတွင် သခင်ဖြစ်သနည်း ဟူသောအချက်ကို နိသမ္မဉာဏ်ဖြင့် တွေးဆဆင်ခြင်သောသူကား ရှားလှပေ၏။

သာမန်အားဖြင့် လူကို အခြားသတ္တဝါများနှင့် နှိုင်းယှဉ်ကြည့်မည်ဆိုလျှင် လူသည် သေးငယ်သော သတ္တဝါပင်ဖြစ်၏။ ကျား၊ ခြင်္သေ့၊ ဝံ အစရှိသော သားရဲတိရစ္ဆာန်များကဲ့သို့ အားအင်လည်း မရှိ၊ ကြံ့၊ ဆင်၊ စိုင် သတ္တဝါများကဲ့သို့လည်း ကိုယ်ခန္ဓာမကြီးမား၊ ငှက်များကဲ့သို့လည်း မပျံသန်းနိုင်၊ မြွေ၊ နဂါးတို့ပမာ အဆိပ်အတောက်လည်းမရှိ။သို့ဖြစ်ပါလျက်နှင့်ပင် လူသည် အရာခပ်သိမ်းတို့၏သခင် အဘယ်သို့ဖြစ်သနည်း၊➤➤

وَكَانَ مِنَ الْكٰفِرِيْنَ ﴿٣٤﴾

"အီဗ်လီစ်" မူကား မောက်မာပလွှား၍ ယင်း အမိန့်တော်ကို ဖီဆန်လေ၏။ သို့အတွက်ကြောင့် သူသည် "ကာဖိရ်" မိစ္ဆာဒိဋ္ဌိကတို့တွင် ¹ အပါအဝင် တစ်ဦး ဖြစ်သွားချေပြီ။

➤➤ အဖြေကား၊ အဏုမြူမျှ လွန်စွာ သေးငယ်လှသော အရာကိုပင် ခွဲခြမ်း စိတ်ပိုင်းနိုင်သော အစွမ်းသတ္တိသည် လူ၌ရှိ၏၊ ယင်းအစွမ်းကား အခြားမဟုတ်၊ ပညာပါရမီ၏တန်ခိုးပင်၊ ဤပညာပါရမီ၏တန်ခိုးဖြင့် လူသည် မိမိရာဇဝင် တလျှောက်လုံးတွင် ကမ္ဘာကိုကြီးစိုးခဲ့၏၊ လွှမ်းမိုးခဲ့၏၊ မိုးပျံမြေလျှိုးနိုင်ခဲ့၏၊ ယနေ့ တိုးတက်လျက်ရှိသော ကမ္ဘာကြီးတွင် လူသည် မိမိအာသာဆန္ဒအလျောက် စိုးမိုးနေသည်မှာ လယ်ပြင်ဆင်သွား သည့်အလား ထင်ရှားလှပေသည်။

အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာမြေပြင်၌ စီမံအုပ်ချုပ်ရန်အလို့ငှာ လူသားတို့၏ဘခင် အာဒမ်(အ)အား မိမိ ကိုယ်စားလှယ်တော်အဖြစ် ခြီးမြှင့်တော်မူ၏။ သို့ခြီးမြှင့်တော်မူရာ၌ ဦးစွာပဌမ ပညာပါရမီကို ပေးသနားတော်မူ၏။ ကြည့်-ကုရ်အာန်(၂း၃၁၊ ၅၅း၂-၄၊ ၉၆း၄-၅)။

ပညာ၏ အဘိုးထိုက်တန်ခြင်းကြောင့်ပင် နဗီတမန်တော် မုဟမ္မဒ်(ဆွ)အား ပညာတည်းဟူသော ရတနာမြတ်ကို အလ္လာဟ်အရှင်မြတ်၏ အထံတော်၌ ဆုပန်ရမည့်အကြောင်း ကုရ်အာန်ကျမ်းမြတ် (၂၀း၁၁၄) တွင် မိန့်ဆိုထားလေသည်။

"ပညာရှိသူနှင့်ပညာမဲ့သူတို့သည် အဘယ်မှာလျှင် တူနိုင်ကြအံ့နည်း"၊ ကြည့်-ကုရ်အာန်(၃၉ း၉)။ လူတို့၏ဘခင် အာဒမ်(အ)သည် ဤပညာပါရမီ တန်ခိုးကြောင့်ပင် ကမ္ဘာ့နာယကဂုဏ်ထူးကို ခြီးမြှင့်ခြင်းခံခဲ့ရ၏။ ပညာပါရမီနှင့် ပြည့်ဝစုံလင်ခြင်းကြောင့်ပင် အပါးတော်စေတမန်များ၏ အလေးပြုခြင်းကိုလည်း ခံခဲ့ရပေသည်၊ ဤသည်ကားပညာပါရမီ၏ တန်ခိုးပင်။

ကုရ်အာန်ကျမ်းမြတ် (၂၉း၄၃)တွင် နက်နဲသောပြဿနာရပ်များကို ပညာရှင်များသာလျှင် သိနားလည်ကြောင်း၊ (၃၅း၂၈)တွင် ပညာရှင်များသာလျှင် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ မြတ်နိုး ကြောင်း၊ (၅၈း၁၁)တွင် အလ္လာဟ်အရှင်မြတ်သည် ပညာရှင်တို့အား ဂုဏ်အင်ဒြပ် အမျိုးမျိုးတို့ဖြင့် မြှောက်စားတော် မူကြောင်းများကို အထူးတလည် ထုတ်ဖော်မိန့်ဆိုထားသည်ကိုလည်း တွေ့ရှိရပေသည်။

နဗီတမန်တော် မုဟမ္မဒ်(ဆွ)ကလည်း ပညာဆည်းပူးလေ့လာရန် အထူးတလည် တိုက်တွန်း နှိုးဆော်ခဲ့သည်။ ထိုကဲ့သို့ နှိုးဆော်တိုက်တွန်း ချက်များအနက်မှ အချို့ကို ဖော်ပြပါအံ့။

က။ ငါ (မုဟမ္မဒ်)သည် အာစရိယဆရာအဖြစ်ဖြင့် ပွင့်ခဲ့သည်။

ခ။ ပညာရှာဖွေဆည်းပူးခြင်းသည် မွတ်စ်လင်မ်မိန်းမ ယောကျ်ားအားလုံးအတို့ မလုပ်မနေရသော "ဖရည်ွ" တာဝန်တစ်ရပ်ဖြစ်သည်။

ဂ။ လပြည့်ညဥ့်တွင် လစန္ဒာသည် ကြယ်တာရာအပေါင်းထက်သာသကဲ့သို့ ပညာရှင်သည် သီလရှင်ထက်သာပေသည်။

ဃ။ "အာလင်(မ်)"ပညာရှိ သုခမိန်များသည် နဗီတမန်တော်များ၏ အမွေစားအမွေခံများဖြစ်ကြသည်။

(၁) ယုံကြည်ခြင်းသဒ္ဓါတရား၏ ပဓါနအချက်သုံးချက်အနက် ပဌမအချက်ချိုးတဲ့သူသည် မုနာဖိက် မည်၏၊ ဒုတိယအချက် ချိုးတဲ့သူသည် *ကာဖိရ်* မည်၏၊ တတိယအချက်ချိုးတဲ့သူကို ဂိုဏ်းအသီးသီးတို့က *ဖါစိက်*➤➤

وَقُلْنَا يٰۤاٰدَمُ اسْكُنْ اَنْتَ وَزَوْجُكَ الْجَنَّةَ وَكُلَا مِنْهَا رَغَدًا حَيْثُ شِئْتُمَا ۖ وَلَا تَقْرَبَا هٰذِهِ الشَّجَرَةَ فَتَكُوْنَا مِنَ الظّٰلِمِيْنَ ﴿٣٥﴾

၃၅။ ထို့နောက် ငါ(အလ္လာဟ်အရှင်မြတ်)သည် (အာဒမ်အား) ဤသို့မိန့်ကြားတော်မူ၏။ အို-အာဒမ်၊ အသင်သည် *မိမိ၏ကြင်ယာ* [၁] (ဟောင်ဝါ)နှင့်တကွ "ဂျန္နတ်" အမတသုခဘုံ၌ နေထိုင်၍ အသင်တို့ဇနီးမောင်နှံနှစ်ဦးသည် ထိုသုခဘုံတွင် အလိုရှိရာနေရာမှ အာသာဆန္ဒရှိသမျှကို (လွတ်လပ်စွာ ယူငင်ပြီး)ဖောသီဝပြောစွာစားသုံးကြကုန်၊ သို့ရာတွင်အသင်တို့သည် ဤအပင်၏အနီးသို့ မချဉ်းကပ်ကြနှင့်၊ (အကယ်၍ ထိုအပင်၏ အနီးသို့ချဉ်းကပ်၍ ထိုအပင်၏ အသီးအနှံကို စားသုံးမိကြလျှင်) အသင်တို့သည် ပြစ်မှုကျူးလွန်သူများတွင် အပါအဝင်ဖြစ်ကြကုန်လတ္တံ့။

فَاَزَلَّهُمَا الشَّيْطٰنُ عَنْهَا فَاَخْرَجَهُمَا مِمَّا كَانَا فِيْهِ ۖ وَقُلْنَا اهْبِطُوْا بَعْضُكُمْ لِبَعْضٍ عَدُوٌّ ۚ وَلَكُمْ فِى الْاَرْضِ مُسْتَقَرٌّ

၃၆။ (ကမ္ဘာဦးဘခင် အာဒမ်(အ)နှင့် ကြင်ရာတော် ဟောင်ဝါတို့သည် အလ္လာဟ်အရှင်မြတ် ပေးသနားတော်မူသော "ဂျန္နတ်" အမတသုခဘုံတွင် သုခစည်းစိမ် ရိပ်ငြိမ်ချမ်းသာကို မွေ့လျော်စွာ စံစား၍ နေကြကုန်၏၊) ထိုသို့ နေထိုင်ရာအတွင်း "ရှိုင်တွာန်" သည် ထိုသစ်ပင်နှင့်စပ်လျဉ်း၍ မာယာ ပရိယာယ်အားဖြင့် လှည့်ပတ်ဖြားယောင်း သွေးဆောင်ပြီး ထိုကြင်ရာကြင်ဘက် နှစ်ဦးတို့အား တိမ်းပါး ချော်ချွတ်စေ၍ ထိုဥယျာဉ်တော်မှ နှင်ထုတ်လေ၏။

---

➤➤ ဟုဆိုကြသည်။ သို့ရာတွင် *ခါရိဂျီ* ဂိုဏ်းဝင်တို့က *ကာဖိရ်* ဟု ဆိုကုန်၏။ မုအ်တဇိလီ ဂိုဏ်းဝင်တို့ကမူ *ကာဖိရ်* လည်းမဟုတ်၊ မွတ်စ်လင်မ် လည်းမဟုတ်ဟု ဆိုကြကုန်၏။

**၁ အာဒမ်(အ)၏ ကြင်ယာတော်။**

တစ်ဦးတည်းဖြစ်နေသော အာဒမ်(အ)အတွက် ကြည်နူးမေတ္တာ ချစ်ခင်စွာ ပေါင်းသင်းဆက်ဆံ အတူနေထိုင်ရန်အလို့ငှာ အလ္လာဟ်အရှင်မြတ်သည် ကြင်ယာတော်တစ်ပါးကို ဖန်ဆင်းပေးတော်မူ၏။

အလ္လာဟ်အရှင်မြတ်သည်အာဒမ်(အ)၏ဘယ်နံရိုးဖြင့် ကြင်ယာတော်(ဟောင်ဝါ)ကိုဖန်ဆင်းတော်မူ၏။

"ဟောင်ဝါ" အား "ဟောင်ဝါ" ဟုမှည့်ခေါ်ခြင်းမှာ [၁] သက်ရှိသတ္တဝါမှ အဖန်ဆင်းခံရခြင်းကြောင့် သော်လည်းကောင်း၊ [၂] လူသတ္တဝါတို့၏ အရင်းမူလဖြစ်ခြင်းကြောင့်သော်လည်းကောင်း၊ [၃] "ဟောင်ဝါ"➤➤

وَّمَتَاعٌ اِلٰى حِيْنٍ ﴿٣٦﴾

ထိုအခါ ငါအလ္လာဟ်အရှင်မြတ်သည် ဤသို့ အမိန့်တော် ချမှတ်တော်မူ၏၊ အသင်တို့သည် (ငါ၏ဥယျာဉ်တော်မှ) ဆင်းသွားကြကုန်။ အသင်တို့သည် တစ်ဦးနှင့်တစ်ဦး ခိုက်ရန်ဖြစ်ပွား ရန်ဘက်များ ဖြစ်ကြအံ့။ ကမ္ဘာမြေပြင်တွင် အသင်တို့အဘို့ သတ်မှတ်ထားသည့် သက်တမ်းတိုင်အောင် နေရာထိုင်ခင်းနှင့် အကျိုးခံစားခြင်းရှိအံ့။

فَتَلَقّٰٓى اٰدَمُ مِنْ رَّبِّهٖ كَلِمٰتٍ فَتَابَ عَلَيْهِ ۗ اِنَّهٗ هُوَ التَّوَّابُ الرَّحِيْمُ ﴿٣٧﴾

**၃၇။** ထိုအခါ ကမ္ဘာဦးဘခင် အာဒမ်(အ)သည် မိမိအားမွေးမြူစောင်မကြည့်ရှုတော်မူထသော အရှင့်ထံမှ အချို့သော(ဆုမွန်)*ပုဒ်ပဒများကို* [၁] သင်ကြားနာယူ၍ (အရှင့်ထံ ဝန်ချတောင်းပန် အသနားခံရာ) အလ္လာဟ် အရှင်မြတ်သည် မိမိကရုဏာတော်ဖြင့် အာဒမ်(အ)ဘက်သို့ လှည့်တော်မူ၍ ချမ်းသာခွင့်ပေးသနားတော်မူလေ၏။ အမှန်စင်စစ် ထိုအရှင်သည် သာလျှင် (ဝန်ချတောင်းပန် အသနားခံသူများအား) အကြိမ်ကြိမ်အဖန်ဖန် ချမ်းသာခွင့်ပေးသနားတော်မူသောအရှင်၊ အစဉ်အမြဲ သနားညှာတာ ကြင်နာတော်မူထသောအရှင် ဖြစ်တော်မူပေသတည်း။

---

≻≻ ၏မေးစေ့၌ (အချို့အဆိုအရ နှုတ်ခမ်း၌) နီရောင်ရှိခြင်းကြောင့် သော်လည်းကောင်း ဖြစ်၏။ ကုရ်အာန်ကျမ်းမြတ်တွင် "ဟောင်ဝါ"ဟူသော အမည်ကို ထုတ်ဖော်မိန့်ဆိုထားသည် မရှိချေ၊ "ဟဒီဆ်" ဩဝါဒကျမ်းများနှင့် အစ္စလာမ်သမိုင်းများတွင်သာ ထိုအမည်ကို တွေ့ရှိရပေသည်။

(၁) **<u>အာဒမ်၏ ဝန်ချတောင်းပန်ချက်။</u>**

အလ္လာဟ်အရှင်မြတ်၏ အထံတော်၌ ဝန်ချတောင်းပန် အသနားခံရာတွင် အာဒမ်(အ) မြွက်ဆိုခဲ့သော ပုဒ်ပါဒများနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း အဆိုပြုလျက်ရှိသည်ကို တွေ့ရှိရသည်။

အို–ကျွန်တော်မျိုးတို့အား မွေးမြူတော်မူသောအရှင်၊ ကျွန်တော်မျိုးတို့သည် မိမိတို့ကိုယ်ကို မိမိတို့ပင် ညှဉ်းပန်းနှိပ်စက်မိကြလေပြီ၊ အကယ်၍သာ ကိုယ်တော်အရှင်သည် ကျွန်တော်မျိုးတို့အား ချမ်းသာခွင့်ပေးသနားတော်မမူခဲ့ပါလျှင် သို့တည်းမဟုတ် ကိုယ်တော်အရှင်သည် ကျွန်တော်မျိုးတို့ပေါ်ဝယ် ကရုဏာသက်ဝင်တော်မမူခဲ့ပါလျှင် ကျွန်တော်မျိုးတို့မှာ ဆုံးရှုံးနစ်မွန်းသော သူများတွင် မုချအပါအဝင် ဖြစ်ကြတော့မည်။

ကုရ်အာန် (၇ း၂၃)။

قُلْنَا اهْبِطُوا مِنْهَا جَمِيعًا ۖ فَإِمَّا يَأْتِيَنَّكُم مِّنِّي هُدًى فَمَن تَبِعَ هُدَايَ فَلَا خَوْفٌ عَلَيْهِمْ وَلَا هُمْ يَحْزَنُونَ ﴿٣٨﴾

၃၈။ (အာဒမ်(အ)နှင့် ကြင်ယာတော် ဟောင်ဝါတို့အား) ငါအရှင် မိန့်ကြားတော်မူသည်မှာ (ယခု) အသင်တို့အားလုံးသည် ဤ"ဂျန္နတ်" အမတသုခဘုံမှ ဆင်းသက်သွားကြကုန်၊ နောင်သောအခါကာလ၌ အကယ်၍ ငါ၏အထံတော်မှ တရားဒေသနာများ ကျရောက်လာလျှင် (ကျရောက်မည်လည်း မုချပင်) သို့ ငါအရှင် ချမှတ်ပေးအပ်တော်မူသော တရားဒေသနာတော်တို့ကို အကြင် မည်သူမဆို နာယူကျင့်မူပါက ထိုကဲ့သို့သော (သူတော်စင် သူတော်မြတ်)တို့သည် စိုးရိမ်ကြောင့်ကြရမည်လည်း မဟုတ်၊ ပူဆွေးကြရ မည်လည်းမဟုတ်။[၁]

وَالَّذِينَ كَفَرُوا وَكَذَّبُوا بِآيَاتِنَا أُولَٰئِكَ أَصْحَابُ النَّارِ ۖ هُمْ فِيهَا خَالِدُونَ ﴿٣٩﴾

၃၉။ သို့ရာတွင် ငါအရှင်၏ တရားဒေသနာတော်များကို လိမ်လည်ထားသည့် တရားဒေသနာတော်များဖြစ်သည်ဟု စွပ်စွဲ၍ (ငါ့အား) ငြင်းပယ်သူများကား ငရဲသားများဖြစ်ကြသည်။ ယင်းသူတို့သည် ထိုငရဲတွင် ထာဝစဉ် ခံစားကြရမည့်သူများတည်း။

---

(၁) ကမ္ဘာဦးဘခင် အာဒမ်(အ)သည် "အီဗ်လီစ်" ၏ ဖြားယောင်းမှုကြောင့် ကမ္ဘာမြေပြင်သို့ ဆင်းသက်လာရသော်လည်း အလ္လာဟ်အရှင်မြတ်သည် ထိုအာဒမ်(အ)အား လျစ်လျူရှုထားတော်မူသည်မဟုတ်။

မဟာကရုဏာရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်သည်လူသားတို့အဘို့ မိမိတို့၏သက်တမ်းတိုင် အေးချမ်းသာယာစွာနေထိုင်နိုင်ရန်အလို့ငှာ ဦးစွာပဌမ လူသားတို့၏ ချို့တဲ့မှုများနှင့် ပြစ်မှုများကို ခွင့်လွှတ်တော်မူ၏။

လူသားတို့အဘို့ အစာရေစာ နေရာထိုင်ခင်းတို့ကို ကြိုတင်၍ စီမံခန့်ခွဲထားတော်မူ၏။ နှစ်ဘဝ၏ သုခချမ်းသာကို ဆောင်ကြဉ်းနိုင်သော ဓမ္မဒေသနာတော်များကိုလည်း မကြာခဏထုတ်ပြန်ပို့ချတော်မူ၏။

ဤမျှမကသေး၊ လူ့သဘာဝအလျောက် အမေ့အမှား မကင်းနိုင်သော လူသားတို့အဘို့ အရှင်မြတ်၏ ကရုဏာတော်များဘက်မှ မြော်လင့်ကိုးစား အားထားချက်များ မကင်းမဲ့စေရန် မိမိ၏ ဂုဏ်ပုဒ်များအနက် "ဧကန်ဆတ်ဆတ် ထိုအရှင်မြတ်သည် ဝန်ချတောင်းပန် အသနားခံသူများအား အကြိမ်ကြိမ်အဖန်ဖန် ချမ်းသာခွင့်ပေးသနားတော်မူထသောအရှင်၊ အစဉ်အမြဲ သနားကြင်နာ ညှာတာတော်မူသောအရှင် ဖြစ်တော်မူပေသတည်း" ဟူသော ဂုဏ်ပုဒ်များကိုလည်း မကြာခဏ လူသားတို့အား သတိပေးတော်မူသည်။

يٰبَنِيٓ إِسْرَٰٓءِيلَ ٱذْكُرُوا۟ نِعْمَتِيَ ٱلَّتِيٓ أَنْعَمْتُ عَلَيْكُمْ وَأَوْفُوا۟ بِعَهْدِيٓ أُوفِ بِعَهْدِكُمْ وَإِيَّٰيَ فَٱرْهَبُونِ ﴿٤٠﴾

၄၀။ အို-အစ္စရာအီလီ [၁] မျိုးနွယ်ဝံသအပေါင်းတို့၊ အသင်တို့အား ငါအရှင်ပေးသနားတော်မူသော သုခ၊ ချမ်းသာ၊ ဂုဏ်ကျေးဇူး တော်များကို (အမြဲတစေ) အောက်မေ့ သတိရကြကုန်၊ (သို့သတိရခြင်းအားဖြင့်) သင်တို့သည် (ငါအရှင့်ထံတော်၌ ထားရှိပြီးသော) ပဋိညာဉ် [၂] ခံဝန်ချက်ကို စောင့်ရှောက်အတည်ပြုကြကုန်၊ ငါအရှင်သည်လည်း သင်တို့နှင့်ထားရှိပြီးဖြစ်သော သစ္စာကတိကို အတည်ပြုတော်မူအံ့၊ (သို့ဖြစ်ရာ) အသင်တို့သည် ငါအရှင်ကိုသာလျှင်ကြောက်ရွံ့ရှိသေကြကုန်လော့။

---

(၁) **အစ္စရာအီလီလူမျိုးတို့၏ ရာဇဝင်အကျဉ်းပုံတွဲအကျဉ်း။**

"အစ္စရာအီလ်" ဟူသည်ကား မည်သူနည်း။

"အစ္စရာအီလ်"သည် [နဗီတမန်တော် အီဗ်ရာဟီမ်(အ)၏မြေး၊ နဗီတမန်တော် အစ္စဟာက်(အ)၏သား] နဗီတမန်တော် ယအ်ကူဗ်၏ ဘွဲ့နာမတော်ဖြစ်သည်။

ကြင်ရာတော် စာရာသခင်မနှင့် ကြင်ရာတော် ဟာဂျရာသခင်မတို့မှ ထွန်းကားသော သားသမီးများသည် အစ္စရာအီလီလူမျိုးနှင့် အစ္စမာအီလီလူမျိုးဟူ၍ ကမ္ဘာ့ရာဇဝင်၌ ထင်ရှား ကျော်ကြားခဲ့ကြ၏။ ကြင်ရာတော် ကိတူရာသခင်မ၏ သားသမီးများ အကြောင်းကိုကား ရာဇဝင်တွင် ထင်ရှားစွာမတွေ့ရှိရပေ။

အီရတ်နိုင်ငံသူ ကြင်ရာတော် စာရာသခင်မသည် နဗီတမန်တော် အစ္စဟာက်(အ)၏ မိခင်ဖြစ်၏။ နဗီတမန်တော် အစ္စဟာက်(အ)၏သားမှာ နဗီတမန်တော် ယအ်ကူဗ်(ဝါ) နဗီတမန်တော် အစ္စရာအီလ်(အ)ဖြစ်၏။ နဗီတမန်တော် ယအ်ကူဗ်(အ)၏ မျိုးနွယ်များသည် အစ္စရာအီလီလူမျိုးဟူ၍ မည်တွင်ကြ၏။

ကြင်ရာတော် ဟာဂျရာ သခင်မသည် အီဂျစ် တိုင်းသူဖြစ်၏။ ထိုသခင်မမှ နဗီတမန်တော် အစ္စမာအီလ်(အ) ကို မွေးဖွား၏။ နဗီတမန်တော် အစ္စမာအီလ်(အ)မှ ဆင်းသက်လာသော လူမျိုးများသည် အစ္စမာအီလီလူမျိုးဟူ၍ မည်တွင်ကြ၏။ နဗီတမန်တော် မုဟမ္မဒ်(ဆွ)၏ မျိုးရိုးဇာတိဖြစ်သော "ကုရိုက်ရှ်" သည် အစ္စမာအီလီလူမျိုးမှ ဆင်းသက်လာသည်။

အစ္စရာအီလီလူမျိုးတို့သည် ယခင်က ကင်နအာန်ပြည်၌ နေထိုင်ကြ၏။ နဗီတမန်တော်ယူစုဖ်(အ) လက်ထက်တော်တွင် အီဂျစ်ပြည်သို့ ရွှေ့ပြောင်းနေထိုင်ကြ၏။ ထိုအရပ်ဒေသ၌ နှစ်ပေါင်း(၄၀၀)ခန့် နေထိုင်ကြပြီး နဗီတမန်တော်မူစာ(အ)သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော် ခံယူသွားပြီးသည့်နောက် နဗီတမန်တော် ယူရှအ်(အ) လက်ထက်တော်တွင် ယေရုရှလင်မြို့တော်ကို အောင်နိုင်ကြ၏။

နဗီတမန်တော် မုဟမ္မဒ်(ဆွ) ပွင့်တော်မမူမီ နှစ်ပေါင်းမြောက်မြားစွာကပင် အချို့ အစ္စရာအီလီလူမျိုးတို့သည် အာရေဗျတိုင်းပြည်၌ရွှေ့ပြောင်းနေထိုင်ကြ၏။သို့ရွှေ့ပြောင်းနေထိုင်ကြခြင်းမှာ မိမိတို့ကျမ်းဂန်များတွင် အာရေဗျတိုင်းပြည်၌ မိမိတို့မြှော်လင့်တောင့်တနေသော တမန်တော်ပွင့်တော်မူမည့် ဗျာဒိတ်စကားကို ကြုံတင်၍➤➤

➤➤သိနိုင်ကြသည့်အတွက် ဖြစ်တန်ရာ၏။

ကုရ်အာန်ကျမ်းမြတ်တွင် အစ္စရာအီလီ လူမျိုးတို့၏ရာဇဝင်ကို အလွန်ရှည်လျားစွာ ထုတ်ဖော်မိန့်ဆိုထားခြင်းမှာ ယင်းလူမျိုးတို့သည် အလ္လာဟ်အရှင်မြတ်ထံတော်မှ မိမိတို့ရရှိထားသော အခွင့်အာဏာများကို နည်းမှန်လမ်းကျ အသုံးမပြုကြသည့်အတွက် ပျက်စီးခဲ့ကြ၏။ ထိုနည်းအတူ လူမျိုးတိုင်းပင် အလ္လာဟ်အရှင်မြတ်ထံမှရရှိသော အခွင့်အာဏာများကို နည်းမှန်လမ်းကျ မသုံးကြလျှင် ဆုံးရှုံးပျက်ပြားကြပေမည်။ သို့ဖြစ်ရာ အစ္စရာအီလီ လူမျိုးတို့၏ ရာဇဝင်သည် နောင်လာနောက်သားများအတို့ အထူးသဖြင့် မွတ်စ်လင်မ်များအတွက် သင်ခန်းစာတစ်ရပ်ပင်ဖြစ်ပေသည်။

နဗီတမန်တော် ယအ်ကူးဗ်(ခေါ်) နဗီတမန်တော် အစ္စရာအီလ်(အ)၏ သားတော် ၁၂ ပါးတို့မှ ဆင်းသက်၍ မျိုးရိုးဇာတိ ၁၂ စုဖြစ်ပေါ်လာကြ၏။ ယခုတိုင် အစ္စရာအီလီ အမည်နှင့် ခေါ်တွင်လျက်ရှိကြသည်။

<u>**မှတ်ချက်**</u>

အစ္စရာအီလီလူမျိုးနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းတော်မြတ်တွင် "အစ္စရာအီလ်၏ မျိုးနွယ်ဝံသ" များဟူ၍၎င်း၊ "ယဟူဒ်"ဟူ၍၎င်း ၂ မျိုးခေါ်ဝေါ်သုံးစွဲထားရာ ထိုအမည် ၂ ခု၏ ခြားနားချက်ကို အထူးသိအပ်ပေ၏။

"အစ္စရာအီလ်၏မျိုးနွယ်ဝံသများ" ဟူသောအမည်သည် လူမျိုးဇာတိကို ထင်ရှားစေရန် အကြောင်းပြု၍ သုံးစွဲသောအမည်ဖြစ်သည်။ "ယဟူဒ်" ဟူသောအမည်ကား ယင်းသူတို့လိုက်နာသော "ယဟူဒီ"သာသနာကို အကြောင်းပြု၍ သုံးစွဲသော အမည်ဖြစ်သည်။ ဤကျမ်းတွင် ယင်းခွဲခြားချက်နှင့်အညီ ထိုအမည်များကို သုံးသွားမည်ဖြစ်သည်။

<u>**အစ္စရာအီလီလူမျိုးတို့အပေါ်ဝယ် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များ။**</u>

အလ္လာဟ်အရှင်မြတ်သည် အစ္စရာအီလီလူမျိုးတို့အား အမျိုးမျိုးသော ဂုဏ်ကျေးဇူးတော်များဖြင့် မြှောက်စားချီးမြှင့်တော်မူခဲ့သည်ကို ကမ္ဘာ့ရာဇဝင်တွင်အထင်အရှားတွေ့ရှိရပေသည်။ ဤတွင်အနည်းငယ်တင်ပြပါအံ့။

[၁] ကမ္ဘာ့အတိတ်ခေတ်တွင် လူမျိုးအသီးသီးတို့သည် "ကုဖ်ရ်" မိစ္ဆာဒိဋ္ဌိအယူများတွင် နစ်မွန်းနေကြခိုက် အစ္စရာအီလီ လူမျိုးများသည်"တောင်ဟီဒ်"တဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ခြင်းတည်း ဟူသော ဝါဒအစစ်အမှန်ကို အထူးတလည် လက်ခံနာယူ ကျင့်မူနိုင်ခဲ့ကြ၏။ ဤကား အလ္လာဟ်အရှင်မြတ်၏ အမြင့်မြတ်ဆုံးသော ကျေးဇူးတော်တစ်ရပ်ပင်။

[၂] အလ္လာဟ်အရှင်မြတ်သည် အစ္စရာအီလီလူမျိုးတို့တွင် တရားဒေသနာတော်များကို ဟောကြားရန် အလို့ငှာ မြောက်မြားစွာသော နဗီတမန်တော်များကို ပွင့်စေတော်မူ၍ ကျမ်းဂန် အစောင်စောင်ကိုလည်း ထုတ်ပြန်ပို့ချတော်မူခဲ့၏။ ယင်းအစ္စရာအီလီလူမျိုးများသည်"ကျမ်းရလူမျိုး" ဟူသောဘွဲ့ကိုချီးမြှင့်ခြင်း ခံခဲ့ကြရ၏။

ထို့ပြင်တဝ ထိုလူမျိုးတွင် အလ္လာဟ်အရှင်မြတ်သည် တွာလူတ်၊ ယူရှအ်၊ ဒါဝူဒ်၊ စုလိုင်မာန် အစရှိသည့် အလွန်တန်ခိုးကြီးမားသောမင်းစိုးရာဇာ၊ ဘုရင်ဧကရာဇ်များ၊ စစ်မှုရေးရာ များတွင် ကျွမ်းကျင်လိမ္မာသော စစ်သေနာပတိများကိုလည်း အမြောက်အမြား ထွန်းကားစေတော်မူခဲ့၏။ ကြည့်၊ ကုရ်အာန် (၅ : ၂၀)။

[၃] အလ္လာဟ်အရှင်မြတ်သည် အစ္စရာအီလီလူမျိုးတို့အပေါ်ဝယ် သဲကန္တာရကြီးတွင် တဝဲလည်လည် ဖြစ်နေခိုက် မိုးတိမ်တို့ဖြင့် အရိပ်အာဝါသကို ပြုလုပ်ပေးတော်မူခဲ့၏။ "မန္န" နှင့် "စလ်ဝါ" မည်တွင်သော အာဟာရများကို ချပေးသနားတော်မူခဲ့၏။ ရေငတ်မွတ်ဆာလောင်ခြင်းမှ လွတ်ကင်းစေရန် အလို့ငှာ စမ်းရေ ချောင်း ၁၂ သွယ်ကိုလည်း စီးဆင်းစေတော်မူခဲ့၏။ ကြည့်၊ ကုရ်အာန် (၂ : ၆၀)။ ➤➤

➤➤ [၄] နဗီတမန်တော်မူစာ(အ) လက်ထက်တွင် အီဂျစ်ပြည်ကို စိုးမိုးသော “ဖိရ်အောင်” ဘုရင်၏ ညှဉ်းဆဲမှု ဘေးဒုက္ခများမှ အလ္လာဟ်အရှင်မြတ်သည်အစ္စရာအီလီလူမျိုးတို့ကို ကယ်ဆယ်တော်မူခဲ့၏။ ဘိုင်ဘဲလ် ကျမ်းတွင် အခြားခေတ်များ၌လည်း ရန်သူတို့၏ ဘေးရန်အမျိုးမျိုးမှ လွတ်ကင်းစေတော်မူခဲ့ကြောင်း တွေ့ရှိရသည်။

[၅] အလ္လာဟ်အရှင်မြတ်သည် အစ္စရာအီလီလူမျိုးတို့ တရားရစိမ့်သောငှာ နဗီတမန်တော် မူစာ(အ)အား တန်ခိုးပြဗ္ဗိဟာ ၉ ခုကို အထင်အရှား ပြစေတော်မူခဲ့၏။ ကြည့်၊ ကုရ်အာန် (၁၇ : ၁၀၁)။

[၆] နဗီတမန်တော်မူစာ(အ)၏ လျှောက်ထားပန်ကြားချက်အရ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ရောင်ခြည်တော်ကို တောင်ပေါ်သို့ လွှတ်တော်မူခဲ့သည်။ ကြည့်၊ ကုရ်အာန်(၇း၁၄၃)။

အကျဉ်းရုံး၍ ဆိုရသည်ရှိသော် အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာသူကမ္ဘာသားများတို့အနက် မည်သူတစ်ဦးတစ်ယောက်ကိုမျှ မပေးသနားစဘူးသော ဆုလာဘ်များကို အစ္စရာအီလီလူမျိုးတို့အား ပေးသနား တော်မူခဲ့လေသည်။ ကြည့်၊ ကုရ်အာန် (၅ : ၂၀)။

**အစ္စရာအီလီလူမျိုးတို့၏ကျူးလွန်မှုများ။**

အလ္လာဟ်အရှင်မြတ်သည် အစ္စရာအီလီ လူမျိုးတို့အပေါ်ဝယ် ဖော်ပြပါအတိုင်း လောကီလောကုတ္တရာ နှစ်ဖြာသော ဂုဏ်ကျေးဇူးတော်များကို ပေးသနားတော်မူပါလျက်နှင့်ပင်၊ [၁] ထိုလူမျိုးတို့သည် အလ္လာဟ် အရှင်မြတ်၏ ကျေးဇူးတော်များကို မသိလေဟန်ဆောင်၍ အမိန့်တော်များကို သွေဖည် ငြင်းဆိုခဲ့ကြ၏၊ [၂] အလ္လာဟ်အရှင်မြတ်၏ ပဋိညာဉ်တော်ကို ဖောက်ဖျက်ခဲ့ကြ၏။ ကြည့်၊ ကုရ်အာန် (၂ : ၈၃ ၊ ၈၄) [၃] ဥပုသ်သီတင်းနေ့နှင့် စပ်လျဉ်း၍ ထုတ်ပြန်ချမှတ်ထားသော ပညတ်များကို ကျူးလွန်ကြ၏။ ကြည့်၊ ကုရ်အာန် (၂ :၆၅)၊ [၄] အချင်းချင်းသတ်ဖြတ်ကြ၏။ [၅] အချင်းချင်းပြည်နှင်ဒဏ်ပေးကြ၏၊ ကြည့်၊ ကုရ်အာန် (၂ :၈၅)။[၆] နွားကို ကိုးကွယ်ကြ၏။ ကြည့်၊ ကုရ်အာန် (၂ :၅၁)၊ [၇] ထုတ်ပြန်ပို့ချထားသော ကျမ်းဂန်များကို အနည်းငယ်မျှသော အဘိုးအခယူ၍ ဖောက်လွဲဖောက်ပြန် ပြုလုပ်ကြ၏။ကြည့်၊ ကုရ်အာန် (၂း၇၉)၊ [၈] နဗီတမန်တော်များကိုပင် မတရားသတ်ဖြတ်ကြ၏။ ကြည့်၊ ကုရ်အာန် (၂ : ၆၁)။

**အစ္စရာအီလီလူမျိုးတို့အပေါ်ဝယ် အလ္လာဟ်အရှင်မြတ်ထံမှ ကျရောက်သောအပြစ်ဒဏ်များ။**

ကျေးဇူးတော်ကို မသိတတ်သော အစ္စရာအီလီလူမျိုးတို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို သွေဖည်ငြင်းဆို ကြသည့်အတွက် အပြစ်ဒဏ်အမျိုးမျိုးကို ခံစားခဲ့ကြရ၏။

(က) ထိုသူတို့အပေါ်၌ ဂုဏ်ရည်သေးသိမ် ယုတ်ညံ့ခြင်းနှင့် ဒုက္ခဆင်းရဲခြင်းသည် အတည်ဖြစ်ချေပြီ၊ ထို့ပြင် ထိုသူတို့သည်အလ္လာဟ်အရှင်မြတ်၏ အမျက်တော်စူးရှခြင်းကိုခံစားကြရပြီ။ ကုရ်အာန်(၂း၆၁)

(ခ) ဥပုသ်သီတင်းနေ့နှင့် စပ်လျဉ်း၍ (ပညတ်ထားသော စည်းကမ်းချက်များကို) အသင်တို့အနက် အချို့တို့သည် ကျူးလွန် ဖောက်ဖျက်ကြသည့်အတွက် ထိုသူတို့အား ငါအရှင်က “စက်ဆုပ်ရွံ့ရှာဘွယ် ကောင်းသော မျောက်တိရစ္ဆာန်များ ဖြစ်ကြကုန်လော့” ဟု စီရင်တော်မူခဲ့သည်ကို အသင်တို့ မုချအသိပင်ဖြစ်ကြသည်။ ကုရ်အာန် (၂ : ၆၅)။

အစ္စရာအီလီလူမျိုးတို့သည် ကမ္ဘာ့ရာဇဝင်တွင် မည်သည့်လူမျိုးမှ မရရှိခဲ့သော အခွင့်အာဏာ၊ ဂုဏ်ထူးဝိသေသတို့ကို ရရှိခဲ့ကြ၏။ သို့သော် ကျေးဇူးတော်ကို မသိတတ်သော အစ္စရာအီလီ လူမျိုးတို့သည် မိမိတို့ ရရှိထားသော အခွင့်အာဏာကို အလွဲသုံးစား ပြုကြသည့်အတွက် ပျက်ပြားကြရလေသည်။ အလ္လာဟ်အရှင်မြတ်ထံမှ ရရှိပြီးသော အခွင့်အာဏာများကို တရားသဖြင့် အသုံးမပြုသော လူမျိုးတို့ကား အဆုံးတွင် ဆုံးရှုံးပျက်ပြားကြရသည်မှာ ကမ္ဘာ့နိယာမ တရားပင်။

Ⓙ “ပဋိညာဉ်တော်” ဟူသည်ကား ကုရ်အာန်ကျမ်းမြတ် (၂ : ၈၃ - ၈၄)ကို ရည်ညွှန်းသည်။ ➤➤

وَاٰمِنُوۡا بِمَاۤ اَنۡزَلۡتُ مُصَدِّقًا
لِّمَا مَعَكُمۡ وَلَا تَكُوۡنُوۡۤا اَوَّلَ
كَافِرٍۢ بِهٖ ۖ وَلَا تَشۡتَرُوۡا بِاٰيٰتِىۡ
ثَمَنًا قَلِيۡلًا ۡ وَّاِيَّاىَ فَاتَّقُوۡنِ ﴿٤١﴾

၄၁။ (အို-အစ္စရာအီလ်၏ မျိုးနွယ်အပေါင်းတို့) အသင်တို့သည် ငါအရှင် ထုတ်ပြန် ပို့ချတော်မူသော (ကုရ်အာန်)ကျမ်းကို နာယူယုံကြည် ကြကုန်လော့၊ အကြောင်းမူကား ယင်း (ကုရ်အာန် ကျမ်းတော်မြတ် သည်) သင်တို့ လက်ဝယ်၌ရှိသော ကျမ်းကိုပင် မှန်ကန်ကြောင်း ထောက်ခံအတည်ပြု လျက်ရှိသော ကျမ်းဂန်ဖြစ်သည်။[၁] သို့ဖြစ်လေရာ အသင်တို့သည် ထို(ကုရ်အာန်) ကျမ်းတော်မြတ်ကို ဦးစွာပဋိသေဓ ငြင်းဆိုသူများ မဖြစ်ကြကုန်လင့်။ ထို့ပြင်တဝ အသင် တို့သည် အနည်းငယ်မျှသော အဘိုးငွေနှင့် ငါအရှင် မြတ်၏ တရားဒေသနာများကို လဲလှယ်ရောင်းချခြင်း မပြုကြကုန်လင့်၊ အသင်တို့သည် ငါအရှင်မြတ်ကို သာလျှင် ကြောက်ရွံ့ ကြကုန်လော့။

---

➢➢ တရံရောအခါ ငါအရှင်သည် အစ္စရာအီလီလူမျိုးတို့ထံမှာ ကတိဝန်ခံချက်ကို (ဤသို့) ယူတော်မူ၏။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်မှတပါး အခြားမည်သည့်အရာကိုမျှ ခယရိုကျိုး ရှိခိုးခြင်းမပြုကြကုန်လင့်။ ထို့ပြင် မိဘနှစ်ပါးအားငှင်း၊ ဆွေမျိုးရင်းချာတို့အားငှင်း၊ မိသက်ဆိုး ဘသက်ဆိုးများအားငှင်း၊ အထီးကျန် သူဆင်းရဲများအားငှင်း ပြုသင့်ပြုထိုက်သော သဂြိုဟ်ထောက်ပံ့ရန် ဝတ္တရားများကို ကျေပွန်စွာ ဆောင်ရွက် ကြကုန်။

ထို့ပြင် တစ်ဦးနှင့်တစ်ဦး ပြောဆိုဆက်ဆံရာ၌ (ပိယဝါစာ သုဘာသိတာ) ချိုအေး သာယာသော အသုံးအနှုန်းများကို ပြောဆိုသုံးစွဲကြကုန်၊ ဆွလာတ်ဝတ်ပြုကြကုန်။ ဇကာတ်တရားဝင်ဒါနကြေး ပေးဆောင်ကြကုန်။

ထို့နောက်တဖန် အသင်တို့ထံမှ ငါအရှင်သည် ကတိဝန်ခံချက်ကို ယူတော်မူသည်မှာ အသင်တို့သည် အချင်းချင်းမသတ်ဖြတ်ကြကုန်လင့်။ တစ်ဦးကိုတစ်ဦး ပြည်နှင်ဒဏ်မပေးကြကုန်လင့်။

(၁) ကုရ်အာန်ကျမ်းမြတ်သည် အစ္စရာအီလီလူမျိုးတို့ထံ ထုတ်ပြန်ပို့ချသော ကျမ်းဂန်ကိုသာ ထောက်ခံသည်မဟုတ်၊ အလ္လာဟ်အရှင်မြတ် ထံတော်မှ လူမျိုးအသီးသီးတို့ထံ ထုတ်ပြန်ပို့ချသော ကျမ်းဂန် အသီးသီးကိုလည်း ထောက်ခံပေသည်။

(အို-နဗီ) ငါအရှင်သည် အသင့်ထံသို့ မှန်ကန်သော(ကုရ်အာန်) ကျမ်းဂန်ဓမ္မက္ခန်ကို ထုတ်ပြန် ပို့ချတော်မူ၏။ ယင်းကျမ်းဂန်သည် မိမိထက် ဦးစွာကျရောက်သော ကျမ်းဂန်အသီးသီးကို ထောက်ခံသည် သာမက ထိုထိုသော ကျမ်းဂန်များကိုလည်း စောင့်ရှောက်သော ကျမ်းဂန်ဖြစ်သည်။ (၅ : ၄၈)

وَلَا تَلْبِسُوا الْحَقَّ بِالْبَاطِلِ وَتَكْتُمُوا الْحَقَّ وَأَنْتُمْ تَعْلَمُونَ ﴿٤٢﴾

၄၂။ (အိုး-အစ္စရာအီလီ မျိုးနွယ်အပေါင်းတို့) အသင်တို့သည် (သဒ္ဓမ္မ) တရားမှန်ကို (ကုဖ်ရ်) မိစ္ဆာဒိဋ္ဌိ အယူမှားနှင့် မရောနှောကြကုန်လင့်။ အသင်တို့သည် တရားမှန် တရားစစ်ကို မိမိတို့ကိုယ်တိုင် သိရှိကြပါလျက် ဖုံးကွယ်ထိန်ချန်၍ မထားကြကုန်လင့်။

وَأَقِيمُوا الصَّلَوٰةَ وَآتُوا الزَّكَوٰةَ وَارْكَعُوا مَعَ الرَّاكِعِينَ ﴿٤٣﴾

၄၃။ (အိုး-အစ္စရာအီလီ မျိုးနွယ်အပေါင်းတို့) အသင်တို့သည် ဆွလာတ် [1] ဝတ်ပြုကြကုန်၊ တရားဝင်ဒါနကြေးဖြစ်သော ဇကာတ် [2] ကိုလည်း ပေးဆောင်ကြကုန်၊ ထို့ပြင်တဝ ကိုင်းညွတ်ရှိကျိုးသောသူများနှင့်အတူ (ညီညာဖျဖျ) ကိုင်းညွတ် ရှိကျိုးကြကုန်။ [2]

---

(၁) အသင်တို့သည် ဆွလာတ် ၅ ကြိမ်ကို ဆွလာတ်ဝတ်ပြုရန် သတ်မှတ်ထားသော အချိန်များတွင် ပညတ်ထားသည့် စည်းကမ်းချက် အားလုံးတို့နှင့်အညီ အစဉ်မပြတ် ဆွလာတ် ဝတ်ပြုကြကုန်ဟူလို။

အသင်တို့သည် မွတ်စ်လင်မ်တို့ ဆွလာတ်ဝတ်ပြုသကဲ့သို့ ဝတ်ပြုကြကုန်ဟူလို။

(၂) "ဇကာတ်" ဟူသောပုဒ်သည် ဖြူစင်စေခြင်း အနက်ပေးသော "ဇကာအွန်" ဟူသောပုဒ်မှ ဖြစ်ပေါ်လာ၏။ အဘယ့်ကြောင့်ဟူမူ ဇကာတ်သည် ဥစ္စာပစ္စည်းများကို အညစ်အကြေးမှ ဖြူစင်စေ၍ စိတ်နှလုံးကိုလည်း စေးနဲခြင်းမှ ဖြူစင်စေခြင်းကြောင့်တည်း။

အရွယ်ရောက်သော၊ သတိတရားမချွတ်ယွင်းသော၊ ကျွန်မဟုတ်သော မွတ်စ်လင်မ် တစ်ယောက်သည် တရားတော်က သတ်မှတ်ထားသည့် ပစ္စည်းအချိုးအစားကို ပိုင်ဆိုင်သည်ရှိသော် တရားတော်နှင့်အညီ ထိုဇကာတ်ကို စားသုံးအပ်သူတို့အား မိမိပိုင်ဆိုင်သော ဥစ္စာပစ္စည်းများအနက်မှ အချိုးကျနှစ်စဉ် လှူဒါန်းပေးကမ်းရ၏၊ ဤသို့ ပေးကမ်းလှူဒါန်းခြင်းကို အစ္စလာမ်သာသနာတော် ပဋိပတ်ကျင့်စဉ်တွင် ဇကာတ်ဟုခေါ်သည်။

ဇကာတ်သည် အစ္စလာမ်သာသနာတော်၌ ဆွလာတ်ကဲ့သို့ပင် မုချ လိုက်နာပြုကျင့်ရမည်ဖြစ်သော သာသနာ့တာဝန် တစ်ရပ်ပင်ဖြစ်သည်။ ဇကာတ်သည် ယဟူဒီဘာသာ၌လည်းရှိခဲ့၏။ သို့ပင်ငြားလည်း ယဟူဒီဘာသာဝင်တို့သည် ထိုတာဝန်ကို လျစ်လျူရှုကြရုံမျှမက ဥစ္စာနေပစ္စည်း၌ ရမ္မက်လောဘမူစိတ်ဖြင့် ဇကာတ်၏ သဘောနှင့် လုံးဝဆန့်ကျင်သော အတိုးအညွန့်ကိုပင် စားသုံးကြကုန်၏။ ထိုကဲ့သို့ တရားပျက်လျက်ရှိသော အစ္စရာအီလီလူမျိုးတို့အား သတိတရား ရစိမ့်သောငှာ အလ္လာဟ်အရှင်မြတ်သည် ဤအမိန့်ကို ထုတ်ပြန်ချမှတ်တော်မူလေသည်။

သာယာဝပြောမှု၏ အကြောင်းတရားများတွင် စီးပွားရေးလည်း တစ်ခုအပါအဝင်ဖြစ်၏၊ ယနေ့ ကမ္ဘာ့အရပ်ရပ်တွင် စီးပွားရေးပြဿနာသည် အကြီးဆုံးသော ပြဿနာတစ်ရပ်ပင် ဖြစ်နေတော့၏။ ➤➤

➤➤ နိုင်ငံရေး ခေါင်းဆောင်အသီးသီးတို့သည် ထိုပြဿနာကို အမျိုးမျိုးသော စီမံကိန်းတို့ဖြင့် ဖြေရှင်းရန် ကြိုးစားအားထုတ်လျက်ရှိကြ၏၊ သို့ပင်တစေ ယင်းပြဿနာသည် ယနေ့ထိတိုင် မပြေလည်သည့်အပြင်၊ ပိုမို၍ပင် ရှုပ်ထွေးလျက်ရှိတော့၏။

အစ္စလာမ်သာသနာတော်သည် ငြိမ်းချမ်းရေးကို အထူးလိုလားသော ဘာသာဖြစ်သည့်အလျောက် ကမ္ဘာ့စီးပွားရေးပြဿနာကို ဖြေရှင်းရန်အလို့ငှာ ဇကာတ်စီမံကိန်းကို ချမှတ်ခဲ့၏၊ ပစ္စည်းကုံလုံကြွယ်ဝသော မွတ်စ်လင်မ် တိုင်းအဘို့ ဤဇကာတ် တရားဝင်ဒါနကြေးကို မပေးမနေရဟု ပြဋ္ဌာန်းခဲ့၏။ လူသားတို့သည် ဇကာတ်စီမံကိန်းကို လက်တွေ့ကျင့်သုံးကြပါလျှင် ယခုကမ္ဘာပေါ်တွင် ဖြစ်ပေါ်နေသော အငတ်ပြဿနာသည် အလိုလိုပင် ပြေလည်သွားမည်မှာ မုချပင်။

ဇကာတ်သည် စေးနဲမှု၊ လောဘရမ္မက်စိတ်၏ ခက်တရော်တင်းမာမှု၊ အဆမတန်အမြတ်ကြီးစားမှု စသည်များကို ပပျောက်စေပြီး အချင်းချင်း တစ်ဦးကိုတစ်ဦး စာနာမှု၊ သနားမှု၊ ညှာတာမှု၊ ကြင်နာမှု အစရှိသည့် သဘောတရားများကို ဖန်တီးပေး၏။ ဆင်းရဲဒုက္ခရောက်သူများအဘို့ စိတ္တသုခ ကာယသုခကို ဆောင်ကြဉ်းပေး၏။

ဇကာတ်သည် အလ္လာဟ်အရှင်မြတ်ထံမှ "ဖရဿ်" မုချတ္တာလိုက်နာပြုကျင့်ရမည့် ပညတ်တော်တစ်ရပ် ဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ်တွင် ဆွလာတ်နှင့်တန်းတူထားပြီး ပူးတွဲလျက် ၃၂ ကြိမ်မျှပင် မိန့်ဆိုထားသည်။ ဇကာတ်ပေးဆောင်ရန်မလိုဟု ငြင်းသောသူသည် "ကာဖိရ်" ဖြစ်၍သွားသည်။

**ဇကာတ်စားသုံးပိုင်သူများ။**

ဇကာတ်သည် [၁] ဆင်းရဲနွမ်းပါးသူများ အဘို့၎င်း၊ [၂] ဖုန်းတောင်း ယာစကာများအဘို့၎င်း၊ [၃] ဇကာတ်နှင့်စပ်လျဉ်းသော ကိစ္စအဝဝကို ဆောင်ရွက်သော အမှုထမ်းများအဘို့၎င်း၊ [၄] အစ္စလာမ် သာသနာတော်၏ တရားများကို နှစ်သက်၍ သာသနာဘောင်တွင်းသို့ ဝင်လိုသူများ၏ စိတ်ကိုနှစ်သိမ့်စေရန် အလို့ငှာ၎င်း၊ [၅] ကျေးကျွန်များကိုကျွန်ဘဝမှ လွတ်မြောက်စေရန်၎င်း၊ [၆] မြီစားများအဘို့၎င်း၊ [၇] အလ္လာဟ် အရှင်မြတ်၏ လမ်းတော်၌၎င်း၊ [၈] (ဒုက္ခရောက်နေသော) ခရီးသည်များအဘို့၎င်း ဖြစ်သည်။ဤသည်ကား အလ္လာဟ်အရှင်မြတ်အထံတော်မှပြဋ္ဌာန်းထားသော ပညတ်တော်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် သဗ္ဗညုတ ဉာဏ်တော်ရှင်ဖြစ်တော်မူသတည်း။ ကုရ်အာန် (၉ : ၆၀)

③ "ရကူအ်" သဒ္ဒါသည် ကိုင်းညွှတ်ခြင်း အနက်ကိုဟောသည်၊ တခါတရံ ဆွလာတ်ဝတ်ပြုရာ၌ ပါရှိသော သီးသန့်ကိုင်းညွှတ်ခြင်းအဘို့လည်း သုံးသည်။ တခါတရံ နိဝါတ ကျိုးနွံနှိမ့်ချခြင်းတရား အဘို့လည်းသုံးသည်။

အသင်တို့သည် ကိုင်းညွှတ်သူများနှင့်အတူ ကိုင်းညွှတ်ကြကုန်ဟူသော ဝါကျ၏သဘောကား အသင်တို့သည် ဆွလာတ်ပြုကြကုန်သော နဗီတမန်တော် မုဟမ္မဒ်(ဆွ)နှင့်အတူ၎င်း၊ သာဝကကြီး များနှင့်အတူ၎င်း ဆွလာတ်ပြုကြကုန်ဟူ၏။

(ဤမုဗာရက်ပါဠ်တော်၌) "ဆွလာတ်" ကို "ရကူအ်" ဟူ၍ ခေါ်ဆိုသုံးစွဲထားခြင်းမှာ "ရကူအ်"သည် ဆွလာတ်၏ အင်္ဂါအစိတ်အပိုင်း တစ်ခုဖြစ်ခြင်းကြောင့်တည်း။ ဤအမိန့်တော်သည် ယဟူဒီဘာသာဝင်များအတွက် ထုတ်ပြန်သော အမိန့်တော်ဖြစ်သည်။ အဘယ်ကြောင့်ဟူမူ ယင်းသူတို့၏ ဆွလာတ်ဝတ်ပြုမှုတွင် "ရကူအ်"ဟူသော အစိတ်အပိုင်း မပါသည်ဖြစ်ရာ ထိုအစိတ်အပိုင်း ပါဝင်သော ဆွလာတ်ဝတ်ပြုမှုကို ပြုကြကုန်ဟူ၍ အမိန့်တော် ထုတ်ပြန်ခြင်းဖြစ်သည်။ ပြီးနောက် ထိုအမိန့်တော်တွင် စုပေါင်း၍ ဆွလာတ်ပြုရန် တိုက်တွန်းနှိုးဆော်ခြင်း၏ သဘောသည်လည်း အကျုံးဝင်လျက်ရှိပေသည်။ 

أَتَأْمُرُونَ النَّاسَ بِالْبِرِّ وَتَنسَوْنَ أَنفُسَكُمْ وَأَنتُمْ تَتْلُونَ الْكِتَابَ أَفَلَا تَعْقِلُونَ ﴿٤٤﴾

၄၄။ (အို-အစ္စရာအီလီ မျိုးနွယ်ဝံသအပေါင်းတို့) အသင်တို့သည် လူအများတို့ကို *ကောင်းမှုတရားပွားများရန်* ^၁ ဆုံးမသြဝါဒ ပေးကြ၍ မိမိတို့ကိုယ်ကို မေ့လျော့နေကြကုန်သလော။ အမှန်အားဖြင့် အသင်တို့သည် (ငါအရှင်ထုတ်ပြန် ပို့ချပေးသနားတော်မူသော) ကျမ်းဂန်များကို ရွတ်ဘတ်သရဇ္ဈာယ်လျက်ရှိကြကုန်၏။ သို့ပါလျက် အသင်တို့ နားမလည်ကြပါသလော။

وَاسْتَعِينُوا بِالصَّبْرِ وَالصَّلَاةِ وَإِنَّهَا لَكَبِيرَةٌ إِلَّا عَلَى الْخَاشِعِينَ ﴿٤٥﴾

၄၅။ အသင်တို့သည် *ခန္တီတရားဖြင့်၎င်း၊* ^၂ *ဆွလာတ်ဝတ်ပြုခြင်းဖြင့်၎င်း၊* ^၃ (အလ္လာဟ်အရှင်မြတ်ထံတော်မှ) အကူအညီ အထောက်အပံ့ကို တောင်းယူကြကုန်။ ဧကန်မုချ ထို(ဆွလာတ်ဝတ်ပြုခြင်း)သည် ကျိုးနွံနှိမ့်ချခြင်း တရား ထားရှိကြကုန်သော သူတော်စင်များမှအပ (အခြား သူများအတို့) အလွန်တရာမှပင် ကြီးလေးသော တာဝန်တစ်ရပ်ဖြစ်ပေသတည်း။

---

➤➤ အစ္စရာအီလီလူမျိုးတို့တွင် အလွန်ဆိုးရွားလှသော ရောဂါကြီးသုံးခုသည် အထူးတလည် စွဲကပ်လျက်ရှိ၏။ [၁] ရာထူးဌာနန္တရကိုစွဲလမ်းခြင်း၊ [၂] ဥစ္စာဓနတပ်မက်မောခြင်း၊ [၃] (မစ္ဆရိယ)မနာလိုဝန်တိုခြင်း။

အလ္လာဟ်အရှင်မြတ်သည် ယင်းသူတို့တွင် စွဲကပ်လျက်ရှိသော ရာထူးဌာနန္တရ စွဲလမ်းမှုကို "ဆွလာတ်" ပြုစေခြင်းဖြင့်၎င်း၊ ဥစ္စာဓန လောဘစိတ်ကို "ဇကာတ်" ပေးဆောင်စေခြင်းဖြင့်၎င်း၊ မစ္ဆရိယစိတ်ကို "ရကူအ်" ပြုစေခြင်းဖြင့်၎င်း ကင်းပျောက်စိမ့်သောငှာ ဤမုက္ကပါဌ်တော်ကို ထုတ်ပြန်ပို့ချတော်မူလေသည်။

(၁) "အလ်ဗိရ်ရု" ဟူသောပုဒ်သည် အလ္လာဟ်အရှင်မြတ်၏ ထံတော်ပါးသို့ ချဉ်းကပ်စေမည့် ကောင်းမှုအမျိုးမျိုးနှင့် ခဝပ်ကိုးကွယ်မှု အားလုံးကို အကျုံးဝင်သောနာမ်ပုဒ်ဖြစ်သည်။ ( اَلْبِرُّ ) ဟူသော ပုဒ်၏ အနက်ကို ကုရ်အာန်(၂း၁၇၇)တွင် အကျယ်တဝင့် ဖွင့်ဟမိန့်ဆိုထားသည်ကို တွေ့ရှိရသည်။

(၂) ( صبر ) သဒ္ဒါသည် "ရှရီအတ်" ကျင့်စဉ်တရားအရ ဆင်ခြင်တုံတရားနှင့်အညီ စိတ်ဓါတ်ကိုချုပ်တည်းခြင်း အနက်ဟောသည်။

[ဆိုလိုသည်ကား စာရိတ္တတရားများကို ကျင့်ရာ၌၎င်း၊ ဝါရိတ္တတရားများကို ကြဉ်ရာ၌၎င်း၊ မယိမ်းမယိုင် ကျောက်တိုင်ပမာ တည့်မတ်၍ မိမိ၏စိတ်ဓါတ်ကို ချုပ်တည်းထားနိုင်ခြင်းသည် "ဆွဗ်ရ်" **ခန္တီ** မည်၏။]

ဗုဒ္ဓသာသနာတရား၌ ခန္တီတရားသည် ပါရမီဆယ်ပါးတွင် တပါးအပါအဝင်ဖြစ်၏။ အစ္စလာမ် သာသနာတွင်လည်း ခန္တီတရားကို အထူးတလည် ထိန်းသိမ်းစောင့်ရှောက် ရမည့်အကြောင်း ➤➤

الَّذِيْنَ يَظُنُّوْنَ اَنَّهُمْ مُّلٰقُوْا رَبِّهِمْ وَاَنَّهُمْ اِلَيْهِ رٰجِعُوْنَ ﴿٤٦﴾

၄၆။ (ခန္တီတရားထားရှိကုန်သော "မုအ်မင်" တို့သည်) မုချဧကန် မိမိတို့အား မွေးမြူတော်မူသော အရှင်ကို ဖူးတွေ့ကြရမည်သူများ ဖြစ်ကြကုန်၏ ဟူ၍၎င်း၊ ထိုအရှင်၏ အထံတော်သို့လည်း ပြန်လှည့်ကြမည့် သူများ ဖြစ်ကြသည်ဟူ၍၎င်း အမှန် ယုံကြည်ကြကုန်သည်။ ①

يٰبَنِيْٓ اِسْرَآءِيْلَ اذْكُرُوْا نِعْمَتِيَ الَّتِيْٓ اَنْعَمْتُ عَلَيْكُمْ وَاَنِّيْ فَضَّلْتُكُمْ عَلَى الْعٰلَمِيْنَ ﴿٤٧﴾

၄၇။ အို-အစ္စရာအီလ်၏မျိုးနွယ် အပေါင်းတို့၊ အသင်တို့အား ငါအရှင် ပေးသနားတော် မူသော သုခချမ်းသာ ဂုဏ် ကျေးဇူးတော် များကိုင်း၊ ငါအရှင်သည် အသင်တို့အား (အထူးထူးသော ဂုဏ်ထူးဝိသေသများဖြင့်) စကြာဝဠာ အပေါင်းထက် ထူးကဲစွာ ခြီးမြှင့်တော်မူခဲ့သည်ကိုင်း၊ အောက်မေ့ သတိရကြကုန်။

➤➤ အများအပြားတွေ့ရှိရ၏။ ကြည့်-ကုရ်အာန် (၂:၁၅၃-၁၅၅၊ ၂:၁၇၇၊ ၉၀:၁၇-၁၈၊ ၁၀၃:၃)
② ဤပါဒ၌ ဆွလာတ်ကို သည်းခံခြင်းတရားနှင့် ပူးတွဲ၍ သုံးထားခြင်းအကြောင်းကို အလျဉ်းသင့်၍ရှင်းပြပါအံ့။
ဆွလာတ်သည် အစ္စလာမ်သာသနာ့ဗိမာန်၏ မဏ္ဍိုင်ကြီးတစ်ခုဖြစ်သည်။ ဆွလာတ်၌ "ဟဂ်ျ"၊ "ဇကာတ်" "ဆွိယာမ်"၊ "ရှဟာဒတ်"၊ "ဣအ်တိကာဖ်"၊ "ဂျိဟာဒ်" စသည်တို့၏ သဘောတရားများသည် တနည်းမဟုတ်တနည်း အကျုံးဝင်လျက်ရှိ၏။
ဆွလာတ်ဝတ်ပြုရာ၌ ကိုယ်၏သန့်စင်ခြင်း၊ အဝတ်အစားသန့်ခြင်း၊ နေရာသန့်ခြင်း၊ လောကီ အနှောင့်အရှက်တို့မှ စိတ်ကိုကင်းစင်စေခြင်း၊ စိတ်ခါတ်ကြံ့ခိုင်ခြင်း၊ အလ္လာဟ်အရှင်မြတ်၏ အိမ်တော်ဘက်သို့ မျက်နှာမူခြင်း၊ ကျိုးနွံခြင်းတရားနှင့် ဘာဝနာစီးဖြန်းခြင်း၊ ဂုဏ်တော်မွမ်းခြင်း၊ ကုရ်အာန်ကျမ်းမြတ် ရွတ်ဘတ်သရဇ္ဈာယ်ခြင်း၊ အလ္လာဟ်အရှင်မြတ်ထံတော်၌ ဆုပန်ခြင်း၊ ဟိရီသြတ္တပ္ပတရား စောင့်ရှောက်ခြင်း၊ စသည်တို့သည် ဆွလာတ်၌အကျုံးဝင်လျက်ရှိနေကြပေ၏။
ဖော်ပြပါအကြောင်းများကြောင့် ဆွလာတ်သည် မလုပ်မနေရ မုချလိုက်နာပြုကျင့်အပ်သော ပဋိပတ်တစ်ရပ်အဖြစ် အလ္လာဟ်အရှင်မြတ်သည် ပြဋ္ဌာန်းထားတော်မူသည်။
မုချဧကန် ဆွလာတ်ဝတ်ပြုခြင်းသည် မုအ်မင်များ အတွက် အလ္လာဟ်အရှင်မြတ်ထံမှ အချိန်ပိုင်းနှင့် သတ်မှတ်ထားသော "ဖရည္ဇ်" ပြဋ္ဌာန်းချက်တစ်ရပ်ဖြစ်သည်။ ကုရ်အာန် (၄:၁၀၃)
① ကုရ်အာန်ကျမ်းလာ(၂ : ၄၆)ကို နက်နက်နဲနဲ တွေးဆဆင်ခြင်ပါသော် (၁) အနန္တကရုဏာရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အား ဧကန္တဖူးတွေ့ရမည်ဟူသော မျှော်လင့်ချက်၊ (၂) စောကြောခြင်းခံရန်အလို့ငှာ ➤➤

وَاتَّقُوْا يَوْمًا لَّا تَجْزِىْ نَفْسٌ عَنْ نَّفْسٍ شَيْـًٔا وَّلَا يُقْبَلُ مِنْهَا شَفَاعَةٌ وَّلَا يُؤْخَذُ مِنْهَا عَدْلٌ وَّلَا هُمْ يُنْصَرُوْنَ ۝٤٨

၄၈။ (အို–အစ္စရာအီလီမျိုးနွယ် အပေါင်းတို့) အသင်တို့သည် သေပြီးနောက် ရှင်ပြန်ထရမည့် "ကိယာမတ်" နေ့(၏ဘေး)ကို (အထူးပင်)ကြောက်ရွံ့၍ မိမိတို့ကိုယ်ကို ကွယ်ကာကြကုန်၊ (အဘယ်ကြောင့်ဟူမူ) ထိုနေ့တွင် မည်သူတစ်ဦးတစ်ယောက်မျှ တစ်စုံတစ်ယောက်သောသူနှင့် ပတ်သက်၍ အနည်းငယ်မျှကိုပင် ဖြည့်စွမ်းပေးနိုင်မည်မဟုတ်။ အဘယ်သူ တစ်စုံတစ်ယောက်၏ *အသနားခံပေးခြင်း*[၁] ကိုလည်း (ငါအရှင်သည်) သဘောတူ လက်ခံတော်မူမည်မဟုတ်။ အဘယ် တစ်စုံတစ်ယောက်သောသူ၏ထံမှ ကိုယ်စားလဲလှယ်ခြင်းကိုလည်း (ငါအရှင်သည်) လက်ခံတော်မူမည်မဟုတ်။ ထို့ပြင်တဝ (ထိုနေ့တွင်) ယင်းသူတို့သည် (အခြားမည်သည့်) ကူညီယိုင်းပင်းမှုကိုမျှလည်း ခံကြရမည်မဟုတ်ပေ။

---

➤➤ အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်သို့ ဧကန်မုချ ဝင်ရောက်ရမည်ဟူသော စိုးရိမ်ကြောင့်ကြမှုတို့သည် မုအ်မင်သူတော်စင်တို့၏ စိတ်နှလုံးများတွင် စွဲလျက်ရှိပေရာ ထိုသို့သော မုအ်မင်များအတို့ ဆွလာတ်ဝတ်ပြုမှုသည် အဘယ်မှာလျှင် ဝန်လေးဘွယ်ရာဖြစ်နိုင်တော့အံ့နည်း။

ဤအကြောင်းနှင့်စပ်လျဉ်း၍ နဗီတမန်တော် မုဟမ္မဒ်(ဆွ)ကလည်း "အီမာန်" ယုံကြည်ခြင်း သဒ္ဓါတရားသည် စိုးရိမ်ကြောင့်ကြခြင်းနှင့် မျှော်လင့်ခြင်း၏အကြား၌ တည်းရှိ၏" ဟု မိန့်ကြား တော်မူခဲ့လေသည်။

(၁) (شَفَاعَة) သဒ္ဒါသည် ချမ်းသာခွင့် တောင်းပန်ပေးရန်အတွက် အခြားသူတစ်ဦးအား ဆည်းကပ်ခြင်း အနက်ကိုဟော၏။ မွတ်စ်လင်မ်ဂိုဏ်း အသီးသီးတို့သည် "ရှဖါအတ်" ပြဿနာကို လက်ခံကြ၏။ ခြားနားချက်ကား ဤသို့တည်း။

မုအ်တဇိလီ ဂိုဏ်းဝင်တို့သည် ဤပါဒကိုအကြောင်းပြု၍ ကြီးမားလေးလံသော အပြစ်များကို ကျူးလွန်သူများအတို့ "ရှဖာအတ်" မရှိဟုဆိုကြ၏။ အများမွတ်စ်လင်မ်ပညာရှင် သုခမိန်များကမူ "ရှဖာအတ်"သည် အမှန်ရှိ၏ဟု မိန့်ဆိုကြပြီး ဤပြဿနာနှင့် စပ်လျဉ်း၍ နဗီတမန်တော်၏ ဟဒီးဆ်များနှင့် ကုရ်အာန်ကျမ်းမြတ်၏ ပါဒများကို သာဓကပြကြ၏။ ထို့ပြင် ဤပါဒ၌ "ရှဖာအတ်" မရှိဟု မိန့်ဆိုထားသည်မှာ မိစ္ဆာဒိဋ္ဌိများအတို့သာဖြစ်သည်ဟု အနက်ကောက်ယူကြ၏။

**"ရှဖာအတ်"၏သဘောတရား။**

"ရှဖာအတ်" ၏သဘောကား ဒုစရိုက်မှုကျူးလွန်မိသော "မုအ်မင်" တစ်ဦး၏ အချို့အပြစ်များသည် အလ္လာဟ်အရှင်မြတ်၏ ခွင့်ပြုတော်မူချက်အရ သူတော်စင်များ၏ အသနားခံပေးခြင်းဖြင့် လွတ်ငြိမ်း ➤➤

وَإِذْ نَجَّيْنَٰكُم مِّنْ ءَالِ فِرْعَوْنَ يَسُومُونَكُمْ سُوٓءَ ٱلْعَذَابِ يُذَبِّحُونَ أَبْنَآءَكُمْ

၄၉။ (အို–အစ္စရာအီလ်၏ မျိုးနွယ်အပေါင်းတို့၊ ပြန်လည်သတိရကြကုန်) တရံရောအခါ ငါအရှင် သည် အသင်တို့အား ဖိရ်အောင်န် [၁] ၏ အခြွေအရံ တို့၏ ဘေးအန္တရာယ်မှ ကယ်မ၍ လွတ်မြောက်စေ တော်မူခဲ့လေသည်၊ထိုသူတို့သည် အသင်တို့အပေါ်ဝယ် အလွန်တရာ ရက်စက်ကြမ်းကြုတ် ဆိုးရွားလှစွာသော ဘေးဒုက္ခဆင်းရဲမှုများကို သက်ရောက်စေကြသည်၊

➤➤ ချမ်းသာခွင့် ရနိုင်ခြင်းကို ဆိုလိုသည်။

"ရှဖာအတ်"ရှိကြောင်းနှင့် စပ်လျဉ်း၍ အများမွတ်စ်လင်မ်တို့သည် ကုရ်အာန်ကျမ်းလာ (၂၀ : ၁၀၉၊ ၁၀ : ၃)စသည့် မုက္ခပါဠ်တော်များကို ကိုးကားကြ၏။

ရှဖာအတ်နှင့်စပ်လျဉ်း၍ "ဟဒီသ်" ကျမ်းကြီးများတွင် ဤသို့မိန့်ဆိုထားလေသည်။

နဗီတမန်တော် မုဟမ္မဒ်(ဆွ)သည် ရှင်ပြန်ထမည့်နေ့တွင် အလ္လာဟ်အရှင်မြတ်အား ပျပ်ဝပ်၍ ဦးချအံ့။ တမန်တော်သည် သွန်သင်ပို့ချတော်မူသည့်အတိုင်း အလ္လာဟ်အရှင်မြတ်အား ဂုဏ်တော်မွန်းအံ့။ ထိုအခါ အလ္လာဟ်အရှင်မြတ်က အမိန့်တော်ပြန်ကြားမည်မှာ (အို–မုဟမ္မဒ်)၊ ဦးမော့၍တောင်းလော့၊ ရအံ့၊ အသနားခွင့်တောင်းလော့၊ လွတ်ငြိမ်းခွင့်ရအံ့။ ကြည့်၊ ဗုခါရီ။

အလ္လာဟ် အရှင်မြတ်သည် နဗီတမန်တော် မုဟမ္မဒ်(ဆွ)အား "မကာမေမဟ်မူဒ်" ကို ခြီးမြှင့်တော်မူမည့်အကြောင်း ကုရ်အာန်ကျမ်းတော်မြတ် (၁၇ : ၇၉)တွင် ပါရှိသည်။

(مقام محمود) ဟူသည်ကား မွန်မြတ်လှစွာသော ဌာနတိုင်းကိုဆိုလိုသည်။ အကျော်ကြားဆုံး အဆိုအရ ယင်းဌာနသည် နဗီတမန်တော် မုဟမ္မဒ်(ဆွ)ကယ်တင်မည့် ဌာနပင်တည်း။

ယင်းဌာနတွင်ရှေးလွန်လေပြီးသူများသည်၎င်း၊ နောင်လာလတ္တံ့သောသူများသည်၎င်း၊ အားလုံးတို့သည် အသင်မုဟမ္မဒ်(ဆွ)အား ခြီးကျူးကြအံ့။ အသင်သည်လည်း သတ္တဝါအပေါင်းတို့ထက် မြှောက်စားခြင်းခံရအံ့။ အသင်လျှောက်ထားသမျှကို (အလ္လာဟ်အရှင်မြတ်ထံမှ) ရရှိအံ့၊ အသင်ကယ်တင်သမျှသည် လွတ်ငြိမ်းချမ်းသာခွင့် ရအံ့။ ကမ္ဘာအဝှန်းရှိ ခပ်သိမ်းကုန်သော လူသူအပေါင်းတို့သည် အသင့်အလံတော်အောက်၌ တည်ရှိကြကုန်အံ့။

ဤလောကတွင် အပြစ်ရှိသူတစ်ဦးအား လိုအပ်သောအရာကို ဖြည့်စွမ်းပေးခြင်းဖြင့်၎င်း၊ အသနား ခံပေးခြင်းဖြင့်၎င်း၊ အစားလဲလှယ်ပေးခြင်းဖြင့်၎င်း၊ ကယ်တင်လေ့ရှိ၏။ အစ္စရာအီလီလူမျိုးတို့သည် ဤလောကတွင် ကယ်တင်ရန်အတွက် အသုံးပြုသော နည်းပရိယာယ်များကို နောင်လာလတ္တံ့သော တမလွန်ဘဝ၌လည်း အသုံးပြုနိုင်ကြလိမ့်မည်ဟု ထင်မှတ်ကြပြီး ဒုစရိုက်မှုအမျိုးမျိုးတို့ကို မကြောက်မရွံ့ ပြုကျင့်လျက်ရှိကြကုန်၏။

ယဟူဒီနှင့် ခရစ်ယာန်များမှအပ မည်သူတစ်ဦးတစ်ယောက်မျှ "ဂျန္နတ်"သုခဘုံသို့ အလျင်းဝင်နိုင်မည် မဟုတ်ဟု ယဟူဒီနှင့်ခရစ်ယာန်တို့က ထုတ်ဖော်ပြောဆိုကြ၏။ ကုရ်အာန်-(၂ : ၁၁၁) ငါတို့ကို ငရဲမီးသည် အနည်းငယ်မျှသောနေ့ရက်များမှအပအလျင်းစွဲလောင်မည်မဟုတ်ဟုအစ္စရာအီလီလူမျိုးတို့က ထုတ်ဖော်ပြောဆိုကြ၏။ ကုရ်အာန်-(၂ : ၈၀)

(၁) "ဖိရ်အောင်န်" ဟူသောပုဒ်သည် အမည်နာမ မဟုတ်၊ ဘွဲ့မျှသာဖြစ်သည်။ ကမ္ဘာ့ရာဇဝင်ကို ပြန်လည်➤➤

وَيَسْتَحْيُونَ نِسَاءَكُمْ وَفِي ذَٰلِكُم بَلَاءٌ مِّن رَّبِّكُمْ عَظِيمٌ ﴿٤٩﴾

ထိုသူတို့သည် အသင်တို့၏ သမီးမိန်းကလေးများကို မသတ်ဘဲ ချန်လှပ်၍ သားယောကျ်ားများကို မူ (ရက်စက်စွာ) သတ်ဖြတ်လေ့ရှိကြ၏၊ [၁] ဤသည်ကား အသင်တို့ကို မွေးမြူတော်မူသောအရှင်၏ထံတော်မှ ကြီးစွာသော *စမ်းသပ်တော်မူခြင်း* [၂] တစ်ရပ်ပင်တည်း။

---

➤➤ သုံးသပ်ကြည့်လျှင် တူရကီပြည် သမတနိုင်ငံမဖြစ်မီခေတ်က မိမိတို့၏ဘုရင်ကို "စုလ်တွာန်" ဟူ၍၎င်း၊ ဂျာမနီပြည်တွင် မိမိတို့၏ဘုရင်ကို "ကီစ်ဇာ" ဟူ၍၎င်း၊ ရုရှားပြည်တွင် မိမိတို့၏ဘုရင်ကို "ဆီဇာ" (သို့) "တီဇာ" ဟူ၍၎င်း၊ ရှေးအခါမှစ၍ ယနေ့ထက်တိုင် အဘီစီနီယာပြည်တွင် မိမိတို့ဘုရင်များကို "နဂျာရှီ" ဟူ၍၎င်း၊ ယမန်ပြည်တွင် မိမိတို့ဘုရင်များကို "တွဘ်ဘအ်" ဟူ၍၎င်း၊ အီရန်ပြည်တွင် ဘုရင်များကို "ချိုစ်ရိုးစ်" ဟု၎င်း၊ ရောမတိုင်းပြည်တွင် မိမိတို့၏ဘုရင်များကို "ကွစ်ရိုး" ဟူ၍၎င်း အသီးသီး မှည့်ခေါ်ကြသကဲ့သို့ အတိတ်ခေတ်တွင် အီဂျစ်တိုင်းပြည်၌ စိုးမိုးသော ဘုရင်များကိုလည်း "ဖိရ်အောင်န်" ဟူ၍ခေါ်ကြလေသည်။

**ဖိရ်အောင်န်၏ နောက်ဆုံးအဖြစ်။**

ငါအရှင်သည် ဖိရ်အောင်န်နှင့်တကွ အခြွေအရံများကို (ပင်လယ်တွင်) နစ်မြုပ်တော်မူလိုက်လေသည်။
ကုရ်အာန် (၈ : ၅၄)။

**ဖိရ်အောင်န်၏ရုပ်ကလာပ်။**

(ဟယ်-ဖိရ်အောင်န်) အသင်သည် မိမိနောက်ရှိလူများအဘို့ သတိသံဝေဂရစိမ့်သော လက္ခဏာတစ်ရပ်ဖြစ်ရန်အလို့ငှာ ယနေ့ ငါအရှင်သည် အသင်၏ရုပ်ကလာပ်ကို ဆယ်တင်ထားတော်မူမည်။
ကုရ်အာန်(၁၀ : ၉၂)။

**ဖော်ပြချက်**

ယနေ့ထိတိုင် အီဂျစ်ပြည်၊ ကိုင်ရိုမြို့၌ "ပိရမစ်" ခေါ် တြိဂံမျက်နှာရှိ အဆောက်အဦတွင် အဆိုပါ ဖိရ်အောင်န်၏ ရုပ်ကလာပ်ကိုတွေ့ရှိနိုင်ပေသည်။

(၁) ဖိရ်အောင်န်သည် အစ္စရာအီလီလူမျိုးတို့၏ အင်အားနည်းပါးခြင်း၊ ဂုဏ်အင်သေးသိမ်ခြင်းကိုသာမက အစ္စရာအီလီလူမျိုးတို့၏ မျိုးနွယ်တစ်ခုလုံး တိမ်ကောပပျောက်သွားခြင်းကိုပင် လိုလား၏၊ သို့လိုလားသည့်အတိုင်း ဖိရ်အောင်န်သည် အစ္စရာအီလီလူမျိုးတို့၏ သားယောကျ်ားများကို သတ်ဖြတ်၍ သမီးမိန်းကလေးများကို အရှင်ထားရန် အမိန့်ထုတ်ပြန်လေသည်။ ကြည့်၊ အလ်မနာရ်။

အစ္စရာအီလီလူမျိုးတို့အား ဖိရ်အောင်န်က သတ်ဖြတ်ခြင်းအကြောင်းနှင့် စပ်လျဉ်း၍ ဗိုင်ဘယ်ကျမ်းတွင် အောက်ပါအတိုင်း တစ်နည်းရေးသား ဖော်ပြပါထားသည်ကိုလည်း တွေ့ရှိရသည်။

"ယင်းကဲ့သို့ ဖိရ်အောင်န်၏ အခြွေအရံများက အစ္စရာအီလီလူမျိုးတို့အား ရက်စက်ကြမ်းကြုတ်စွာ ပြုမူခြင်း၏ အကြောင်းရင်းမှာ များမကြာမီကာလအတွင်း အစ္စရာအီလီလူမျိုးတို့တွင် ဖိရ်အောင်န်၏ ထီးနန်းကို လုယူမည့် သားယောကျ်ားတစ်ယောက် ဖွားမြင်မည့်အကြောင်း ဖိရ်အောင်န်ကိုယ်တိုင် အိပ်မက်မြင်မက်ခဲ့သည်၊ သို့တည်းမဟုတ် ထိုအကြောင်းကို ဗေဒင်ဟူးရားဆရာတို့က ဖိရ်အောင်န်အား ဟောကြားခဲ့ကြသည်"

(၂) ( بَلَاءٌ ) သဒ္ဒါသည် ဆွေးမြည့်ခြင်း၊ စမ်းသပ်ခြင်း၊ ဒုက္ခပေးခြင်း၊ သုခပေးခြင်း အနက် ➤➤

وَإِذْ فَرَقْنَا بِكُمُ الْبَحْرَ فَأَنجَيْنَاكُمْ وَأَغْرَقْنَا آلَ فِرْعَوْنَ وَأَنتُمْ تَنظُرُونَ ﴿٥٠﴾

၅၀။ (အို-အစ္စရာအီလီမျိုးနွယ် အပေါင်းတို့၊ ပြန်လည်အောက်မေ့သတိရကြကုန်) တရံရောအခါ၊ ငါအရှင်သည် (အသင်တို့ကူးဖြတ် လျှောက်သွားနိုင်ကြရန်အလို့ငှာ) ပင်လယ်ကိုပင်ခွဲ၍ အသင်တို့အား ဖိရ်အောင်န်၏ အခြွေအရံတို့၏ဘေးမှ ကယ်တင်တော်မူခဲ့၏။ ထို့နောက် ဖိရ်အောင်န်၏ အခြွေအရံများကို ငါအရှင်သည် (အသင့်တို့ မျက်မှောက်၌ပင်) နစ်မြုပ်တော်မူလိုက်သည်။ ထိုအချိန် အသင်တို့သည် မိမိတို့ကိုယ်တိုင် (ဤအချင်းအရာများကို) ကြည့်နေကြကုန်သည်။

وَإِذْ وَاعَدْنَا مُوسَىٰ أَرْبَعِينَ لَيْلَةً ثُمَّ اتَّخَذْتُمُ الْعِجْلَ مِن بَعْدِهِ وَأَنتُمْ ظَالِمُونَ ﴿٥١﴾

၅၁။ (အို-အစ္စရာအီလ်၏ မျိုးနွယ်အပေါင်းတို့၊ ပြန်လည်အောက်မေ့သတိရကြကုန်) တနေ့သောအခါ ငါအရှင်သည် နဗီတမန်တော်မူစာအား ရက်ပေါင်းလေးဆယ် (ကုန်လွန်ပြီးနောက် "တောင်ရာတ်" ကျမ်းဂန်ကို ထုတ်ပြန်ပို့ချပေးသနားတော်မူမည်ဟု) ပဋိညာဉ်ထားတော်မူသည်။ (ထိုပဋိညာဉ်တော်အရ နဗီတမန်တော်မူစာသည် ထိုကျမ်းဂန်ကို ဦးထိပ်ရွက်ပန်ဆင်ရန် "သိန"တောင်၌ ရက်ပေါင်းလေးဆယ် သီတင်းသုံးနေခိုက်) သူ၏ နောက်ကွယ်ရာ၌ အသင်တို့သည် နွားငယ်ကို (ဘုရားအဖြစ်) ပြုလုပ်ကိုးကွယ်ကြကုန်သည်၊ အမှန်စင်စစ် အသင်တို့သည် ကျူးလွန်သူများ ဖြစ်ကြကုန်သည်။

---

➤➤ အမျိုးမျိုးကိုဟောသည်။ ကြည့်၊ ရာဃိဗ်။

အလ္လာဟ်အရှင်မြတ်သည် မနုဿလူသားတို့ကို တခါတရံ ဒုက္ခပေး၍ စမ်းသပ်တော်မူ၏။ တခါတရံ သုခချမ်းသာ ပေးသနားတော်မူ၍ စမ်းသပ်တော်မူ၏။ ကြည့်၊ ကုရ်အာန် (၂၁ : ၃၅)။

[ ကုရ်အာန် (၂ : ၄၉)တွင် ပါရှိသော (ذَٰلِكُم)"ထို" ဟူသောပုဒ်သည် ဖိရ်အောင်န်၏ နှိပ်စက်ညှဉ်းပမ်းမှုများကို ညွှန်ပါက(بَلَاءٌ)၏အနက်မှာ ဒုက္ခဟူ၍ဖြစ်၏၊ အကယ်၍ "ထို"ဟူသောပုဒ်သည် အလ္လာဟ်အရှင်မြတ်၏ ကယ်တင်ခြင်းကို ညွှန်ပါသော် (بَلَاءٌ)၏အနက်မှာ သုခဟူ၍ဖြစ်၏။ ]

ثُمَّ عَفَوْنَا عَنْكُمْ مِّنْۢ بَعْدِ ذٰلِكَ لَعَلَّكُمْ تَشْكُرُوْنَ ﴿٥٢﴾

၅၂။ (အို-အစ္စရာအီလီ မျိုးနွယ်ဝံသအပေါင်းတို့) အသင်တို့သည်၊ ထိုသို့နွားကို ကိုးကွယ်ကြပြီးသည့် နောက်သော်မှပင် ငါအရှင်သည် အသင်တို့အား ချမ်းသာခွင့် ပေးသနားတော်မူခဲ့လေသည်။ သို့မှသာလျှင် အသင်တို့သည် ကျေးဇူးတင်ကြပေမည်။

وَاِذْ اٰتَيْنَا مُوْسَى الْكِتٰبَ وَالْفُرْقَانَ لَعَلَّكُمْ تَهْتَدُوْنَ ﴿٥٣﴾

၅၃။ (အို-အစ္စရာအီလီ မျိုးနွယ်အပေါင်းတို့၊ ပြန်လည်အောက်မေ့သတိရကြကုန်) တရံရောအခါ ငါအရှင်မြတ်သည် အသင်တို့တရားရစိမ့်သောငှာ နဗီတမန်တော် မူစာ(အလိုင်ဟစ္စလာမ်) အား (တောင်ရာတ်) ကျမ်းဂန် (ဝါ) အမှားအမှန်ခွဲခြား၍ ညွှန်ကြားပြသသော ကျမ်းဂန်ကို ထုတ်ပြန် ပို့ချ ပေးသနားတော်မူ၏။

وَاِذْ قَالَ مُوْسٰى لِقَوْمِهٖ يٰقَوْمِ اِنَّكُمْ ظَلَمْتُمْ اَنْفُسَكُمْ بِاتِّخَاذِكُمُ الْعِجْلَ فَتُوْبُوْٓا اِلٰى بَارِئِكُمْ فَاقْتُلُوْٓا اَنْفُسَكُمْ ؕ ذٰلِكُمْ خَيْرٌ لَّكُمْ عِنْدَ بَارِئِكُمْ ؕ فَتَابَ عَلَيْكُمْ ؕ اِنَّهٗ هُوَ التَّوَّابُ الرَّحِيْمُ ﴿٥٤﴾

၅၄။ (အို-အစ္စရာအီလီ မျိုးနွယ်အပေါင်းတို့၊ ပြန်လည် အောက်မေ့သတိရကြကုန်၊) တနေ့သောအခါ နဗီတမန်တော် မူစာက မိမိ၏ အမျိုးသားများအား ပြောကြားသည်မှာ၊ အို-ကျွန်ုပ်၏ အမျိုးသားအပေါင်းတို့၊ ဧကန်မုချ အသင်တို့သည် နွားငယ်ကို ကိုးကွယ်ပူဇော်ခြင်းဖြင့် မိမိတို့ကိုယ်ကို မိမိတို့ပင် နှိပ်စက် ညှဉ်းပန်းကြလေပြီ၊ သို့ဖြစ်၍ (ထိုကဲ့သို့ ကြီးလေးသောအပြစ်မှ ချမ်းသာခွင့်ရရန်) အသင်တို့သည် မိမိတို့အား မွေးမြူဖန်ဆင်းတော် မူသောအရှင့် အထံတော်၌ ဝန်ချတောင်းပန် အသနားခံကြကုန် လော့၊ ထို့နောက် အသင်တို့သည် မိမိတို့ အချင်းချင်း သတ်ဖြတ်ကြကုန်လော့။ (သို့ ဝန်ချတောင်းပန် အသနားခံခြင်းသာလျှင်) အသင်တို့အဘို့ အသင်တို့အား မွေးမြူဖန်ဆင်းတော်မူသော အရှင့် ထံတော်၌ ကောင်းမြတ်သောအကြောင်းတရားဖြစ်၏၊

ထို့နောက် (အသင်တို့သည် ညွှန်ကြားပြသ ဆိုဆုံးမတော်မူသည့်အတိုင်း ဝန်ချတောင်းပန်ကြသည့် အတွက်) အလ္လာဟ်အရှင်မြတ်သည် အသင်တို့၏ ဝန်ချတောင်းပန်ချက်ကို လက်ခံတော်မူလိုက်လေပြီ။ အဘယ်ကြောင့်ဟူမူ ထိုအရှင်သည်သာလျှင် (ဝန်ချတောင်းပန် အသနားခံသူတို့၏ တောင်းပန်ချက်ကို) အကြိမ်ကြိမ် လက်ခံတော် မူသောအရှင်၊ မဟာကရုဏာရှင် ဖြစ်တော်မူပေသည်။

وَاِذْ قُلْتُمْ يٰمُوْسٰى لَنْ نُّؤْمِنَ لَكَ حَتّٰى نَرَى اللّٰهَ جَهْرَةً فَاَخَذَتْكُمُ الصّٰعِقَةُ وَاَنْتُمْ تَنْظُرُوْنَ ﴿٥٥﴾

၅၅။ (အို- အစ္စရာအီလီ မျိုးနွယ်အပေါင်းတို့၊ ပြန်လည်အောက်မေ့သတိရကြကုန်) တရံရောအခါ အသင်တို့က "အို-မူစာ၊ ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်ကို ဒိဋ္ဌမျက်ဝါးထင်ထင် မဖူးမြင်ရသမျှ① ကာလပတ်လုံး ကျွန်ုပ်တို့သည် အသင့်အား အလျင်း ယုံကြည်ကြမည်မဟုတ်" ဟု ပြောဆိုကြကုန်၏။ (ထိုကဲ့သို့ မပြောသင့် မပြောအပ်သော စကားရပ်ကို ပြောဆိုကြသည့်အတွက်) အသင်တို့အား (အလ္လာဟ်အရှင်မြတ်၏ ကြောက်မက်ဖွယ်ကောင်းသော) မိုးကြိုးလောင်မီးသည် ဖမ်းဆီး(ကွပ်မျက်)လိုက်လေပြီ။ အသင်တို့ကိုယ်တိုင်လည်း (ထိုအခြင်းအရာကို) တွေ့မြင်ကြပေသည်။

① လူသားတို့သည် မိမိတို့၏မံသစက္ခုဖြင့် အလ္လာဟ်အရှင်မြတ်အား ဖူးမြင်နိုင်ကြပါ၏လော ဟူသော ပြဿနာသည် အလွန်နက်နဲခက်ခဲလှသော ပြဿနာတရပ်ပင်ဖြစ်ပေသည်။ သို့ခက်ခဲနက်နဲသည့်အလျောက် ယင်းပြဿနာနှင့်စပ်လျဉ်း၍ အယူအဆများလည်း ကွဲပြားလျက်ရှိပေသည်။

"မုအ်တဇိလီ" ဂိုဏ်းဝင်တို့က လူသားတို့သည် အလ္လာဟ်အရှင်မြတ်အား မည်သည့်နည်းနှင့်မျှ ဖူးမြင်နိုင်ကြမည်မဟုတ်ဟုအတည့်အလင်းဆိုကြသည်။"အဟ်လိစ္စုန္နတ်" ဂိုဏ်းသားတို့ကမူ နောင်တမလွန်ဘဝတွင် ဂျန္နတ်ဥယျာဉ်မြတ်၌ မွတ်စ်လင်မ်တို့သည် အလ္လာဟ်အရှင်မြတ်အား မုချဖူးမြင်ကြရပေမည်။ ဤလောကတွင်လည်း အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို ထူးကဲစွာခံစားရသော အချို့နဗီတမန်တော်များ အဘို့မှာ အလ္လာဟ်အရှင်မြတ်အား ဖူးမြင်ခြင်းကိစ္စသည် ဖြစ်နိုင်သော ကိစ္စမျိုးပင်ဖြစ်ပေသည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်အား ဖူးမြင်ခြင်းသည် မည်ရွေ့မည်မျှ မည်သို့မည်ပုံ အခြင်းအရာလက္ခဏာ ပုံပန်းသဏ္ဌာန် ➢➢

ثُمَّ بَعَثْنٰكُمْ مِّنْۢ بَعْدِ مَوْتِكُمْ لَعَلَّكُمْ تَشْكُرُوْنَ ﴿٥٦﴾

၅၆။ (အို-အစ္စရာအီလီ မျိုးနွယ်အပေါင်းတို့၊) အသင်တို့ အသက်သေကြေ ပျက်စီးပြီးသည့် နောက်သော်မှပင် ငါအရှင်သည် အသင်တို့အား တဖန် ရှင်ပြန်ထစေတော် မူ၏။ သို့မှသာလျှင် အသင်တို့သည် ကျေးဇူးတင်ကြမည်။

وَظَلَّلْنَا عَلَيْكُمُ الْغَمَامَ وَاَنْزَلْنَا عَلَيْكُمُ الْمَنَّ وَالسَّلْوٰى ؕ كُلُوْا مِنْ طَيِّبٰتِ مَا رَزَقْنٰكُمْ ؕ وَمَا ظَلَمُوْنَا وَلٰكِنْ كَانُوْٓا اَنْفُسَهُمْ يَظْلِمُوْنَ ﴿٥٧﴾

၅၇။ (အို- အစ္စရာအီလီ မျိုးနွယ်အပေါင်းတို့) ငါအရှင်သည် အသင်တို့အပေါ်ဝယ် မိုးတိမ်များကို အရိပ် အာဝါသအဖြစ် ပြုလုပ်ပေးတော်မူ၏။ ထိုမျှမကသေး (မွတ်သိပ်ဆာလောင်ခြင်းမှ ကင်းစိမ့်သောငှာ) ငါ အရှင်သည် "မန္န" ဟူသော စားဘွယ်ရာတမျိုးနှင့် "စလ်ဝါ" ခေါ် ငုံးသတ္တဝါတမျိုးကို ချပေးသနား တော်မူ၏။ သို့ဖြစ်ရာ အသင်တို့သည် ငါအရှင် ပေးသနားတော်မူသည့် ကောင်းမြတ်သော ခဲဘွယ်ဘောဇဉ်များကို စားသုံးကြကုန်။ ထိုသူတို့သည် ငါအရှင်မြတ်အား နှိပ်စက်ညှဉ်းပန်းကြသည်မဟုတ်။ မိမိတို့ကိုယ်ကို မိမိတို့ပင် နှိပ်စက်ညှဉ်းပန်းကြကုန်၏။

وَاِذْ قُلْنَا ادْخُلُوْا هٰذِهِ الْقَرْيَةَ فَكُلُوْا مِنْهَا حَيْثُ شِئْتُمْ رَغَدًا وَّادْخُلُوا الْبَابَ سُجَّدًا وَّقُوْلُوْا

၅၈။ (အို-အစ္စရာအီလီ မျိုးနွယ်အပေါင်းတို့၊ ပြန်လည်အောက်မေ့သတိရကြကုန်၊) တရံတရောအခါ ငါအရှင်သည် မိန့်ကြားခဲ့သည်မှာ "အသင်တို့သည် ဤမြို့သို့ဝင်ရောက်၍ အလိုရှိရာခဲဘွယ်ဘောဇဉ်များကို အဘယ်မှမဆို မိမိတို့ ဆန္ဒအလိုက် ဖေါဖေါသီသီ စားသုံးကြကုန်၊ (ငါ့အားလည်း ခယရိုကျိုးသောအနေအားဖြင့်) ဝပ်တွား၍ မြို့တံခါးပေါက်သို့ ဝင်ကြကုန်။

➤➤. . . အစရှိသည်တို့နှင့် လုံးဝကင်းစင်သော ဖူးမြင်ခြင်းမျိုးသာဖြစ်သည်ဟု ဆိုကြကုန်သည်။ ဤကား အများမွတ်စ်လင်မ်တို့၏ ယူဆချက်ပင်တည်း။

ဤပြဿနာနှင့်စပ်လျဉ်း၍ အကျယ်သိလိုပါက "တဖ်စီရ်ကဗီရ်" ကျမ်းကိုရှုပါကုန်။

حِطَّةٌ نَّغْفِرْ لَكُمْ خَطٰيٰكُمْ ۚ
وَسَنَزِيْدُ الْمُحْسِنِيْنَ ﴿٥٨﴾

"ဟိတ်တွတွန်" (ကျွန်တော်မျိုးတို့အား အပြစ်များမှ ချမ်းသာခွင့် ပေးသနားတော် မူပါ) ဟုလည်း မြွက်ဆိုကြကုန်။ (ဖော်ပြပါ အမိန့်သြဝါဒများကို လိုက်နာ ကျင့်မူကြပါလျှင်) ငါအရှင်သည် အသင်တို့၏ မှားယွင်းမှုများကို ခွင့်လွှတ်တော်မူမည်။ ထို့ပြင်တဝ ငါအရှင်သည် ကောင်းမှုပြုသောသူများကိုလည်း ကုသိုလ်အကျိုး ဆထက်တိုး၍ ပေးသနားတော်မူမည်။

فَبَدَّلَ الَّذِيْنَ ظَلَمُوْا قَوْلًا
غَيْرَ الَّذِيْ قِيْلَ لَهُمْ فَاَنْزَلْنَا
عَلَى الَّذِيْنَ ظَلَمُوْا رِجْزًا
مِّنَ السَّمَآءِ بِمَا كَانُوْا
يَفْسُقُوْنَ ﴿٥٩﴾

၅၉။ သို့ရာတွင် (တရားတော်ကို) ကျူးလွန်ကြသော ထို(အစ္စရာအီလီ) လူမျိုးတို့သည် မိမိတို့အား သင်ကြားပို့ချထားသော စကားရပ်နှင့် ဆန့်ကျင်သည့် အခြား (မလျော်ကန်သော) စကားရပ် ကို ပြောင်းလွှဲ၍ သုံးစွဲကြလေသည်။

သို့ဖြစ်ရာ ငါအရှင်သည် တရားတော်ကို ကျူးလွန်သော ထို(အစ္စရာအီလီ) မျိုးနွယ်တို့ အပေါ်သို့ ဒုစရိုက်မှုများ ပြုလေ့ရှိကြ သည့်အတွက် မိုးကောင်းကင်မှ ရောဂါန္တရကပ်ကို ဆိုက်ရောက်စေတော်မူလေသည်။

وَاِذِ اسْتَسْقٰى مُوْسٰى لِقَوْمِهٖ
فَقُلْنَا اضْرِبْ بِّعَصَاكَ الْحَجَرَ ۚ
فَانْفَجَرَتْ مِنْهُ اثْنَتَا عَشْرَةَ
عَيْنًا ۚ قَدْ عَلِمَ كُلُّ اُنَاسٍ

၆၀။ (အို- အစ္စရာအီလီ မျိုးနွယ်အပေါင်းတို့ ပြန်လည်အောက်မေ့ သတိရကြလေကုန်၊) အခါတပါး၌ (နဗီတမန်တော်) မူစာ(အ)သည် (ငါအရှင်မြတ်၏ထံတော်မှ) မိမိ အမျိုးသားများအဘို့ သောက်သုံးရန်ရေကို (ပေးသနားတော်မူပါဟု) ဆုတောင်းပတ္တနာပြုရာ ငါအရှင်က (အို-မူစာ) အသင်သည် မိမိလှင်ကန် တောင်ဝှေးဖြင့် ကျောက်တုံးကို ရိုက်ခတ်လော့ဟု မိန့်ကြားတော်မူခဲ့လေသည်။

ثُمَّ شْرَبَهُمْ كُلُوْا وَاشْرَبُوْا مِنْ رِّزْقِ اللهِ وَلَا تَعْثَوْا فِي الْأَرْضِ مُفْسِدِيْنَ ۝٦٠

[သို့ မိန့်ကြားချက်အရ နဗီတမန်တော် မူစာ(အလိုင်ဟစ္စလာမ်)သည် ကျောက်တုံးကို ရိုက်ခတ်လေရာ ယင်းကျောက်တုံးသည် ကွဲအက်၍ အစ္စရာအီလီ လူမျိုးတို့၏ အသင်းဦးရေ နှင့်အညီ] စမ်းရေချောင်း ၁၂ သွယ်တို့သည် ထိုကျောက်တုံးမှ ပန်းထွက်လာလေသည်။

(ထိုအခါ) ယင်းအစ္စရာအီလီ လူမျိုးတို့သည် အသီးသီး မိမိတို့ သောက်သုံးရာ ဌာနကို (ကောင်းမွန်စွာ) မှတ်သား၍ ထားကြလေသည်။

(ထိုအခါ ငါအရှင်မြတ်သည် ယင်းသူတို့ကို) အသင်တို့သည် ငါအရှင်မြတ်ထံတော်မှ ပေးသနားတော်မူသော ("မန္န" နှင့်"စလ်ဝါ" တည်းဟူသော) ခဲဘွယ်ဘောဇဉ်တို့ကို စားသုံးကြ၍ (အယဉ်တွေတွေ စီးဆင်းလျက်ရှိသော ကျောက်စက်ရေကို ကျေးဇူးတင်စွာဖြင့်) သောက်သုံး ကြကုန်လော့။ အသင်တို့သည် ပထဝီမြေပြင်ဝယ် ဆူပူ သောင်းကျန်းသူများအဖြစ်နှင့် မကျူးလွန်ကြကုန်လင့်၊ (ဟု မိန့်တော်မူလေသည်)။

وَاِذْ قُلْتُمْ يٰمُوْسٰى لَنْ نَّصْبِرَ عَلٰى طَعَامٍ وَّاحِدٍ فَادْعُ لَنَا رَبَّكَ يُخْرِجْ لَنَا مِمَّا تُنْۢبِتُ الْأَرْضُ مِنْۢ بَقْلِهَا وَقِثَّآئِهَا وَفُوْمِهَا وَعَدَسِهَا

၆၁။ (အို-အစ္စရာအီလီ မျိုးနွယ်အပေါင်းတို့၊ ပြန်လည်အောက်မေ့သတိရရှိကြကုန်လော့၊) တရံရောအခါ အသင်တို့သည် [နဗီတမန်တော် မူစာ(အလိုင်ဟစ္စလာမ်)အား] အို-နဗီတမန်တော် မူစာ (အလိုင်ဟစ္စလာမ်) ကျွန်တော်များသည် (နေ့စဉ်နှင့်အမျှ "မန္န" နှင့် "စလ်ဝါ"ကိုသာ မှီဝဲစားသုံး နေရခြင်းဖြင့် ငြီးငွေ့ကြပြီဖြစ်ပေရာ) အစားတမျိုးတည်းနှင့် ရောင့်ရဲတင်းတိမ်၍ အလျင်းမနေနိုင်ကြတော့ပြီ၊

وَبَصَلِهَا ۖ قَالَ أَتَسْتَبْدِلُونَ
الَّذِي هُوَ أَدْنَىٰ بِالَّذِي
هُوَ خَيْرٌ ۚ اهْبِطُوا مِصْرًا
فَإِنَّ لَكُم مَّا سَأَلْتُمْ ۗ وَضُرِبَتْ
عَلَيْهِمُ الذِّلَّةُ وَالْمَسْكَنَةُ
وَبَاءُوا بِغَضَبٍ مِّنَ اللَّهِ ۗ
ذَٰلِكَ بِأَنَّهُمْ كَانُوا
يَكْفُرُونَ بِآيَاتِ اللَّهِ
وَيَقْتُلُونَ النَّبِيِّينَ بِغَيْرِ
الْحَقِّ ۗ ذَٰلِكَ بِمَا عَصَوا
وَّكَانُوا يَعْتَدُونَ ﴿٦١﴾

သို့ဖြစ်လေရာ ကျွန်တော်များအဘို့ မြေမှ ပေါက်ရောက်သော (အစားအစာများဖြစ်သော) ဟင်းသီးဟင်းရွက်များ၊ သခွါးသီးများ၊ ဂျုံများ၊ ပဲရာဇာများနှင့် ကြက်သွန်နီများကို ပေါက်ရောက်စေတော်မူပါရန် အသင့်အား မေးမြူတော်မူသော အရှင့်ထံတော်ဝယ် ဆုတောင်းပန်ထွာ၍ ပေးတော်မူပါဟု ပြောခဲ့ကြလေသည်။ [ထိုအခါ နဗီတမန်တော် (မူစာအလိုင်ဟစ္စလာမ်)က ဟယ်-အချင်းတို့] အသင်တို့သည် (ယခုစားသုံးနေကြရသော) အလွန်ကောင်းမြတ်သော(ဘောဇဉ်ခဲဘွယ်)များကို အလွန်တရာမှု ညံ့ဖျင်းသော အာဟာရမျိုးဖြင့် လဲလှယ်စားသုံးလိုကြပါသလော။ (သို့ဖြစ်လျှင်) အသင်တို့လိုလားတောင့်တကြကုန်သော အစာအာဟာရများကို ရရှိနိုင်ရန် အလို့ငှာ မြို့တမြို့သို့ ဝင်ရောက်နေထိုင်ကြကုန်လော့ဟု မိန့်တော်မူလေသည်။ ထိုကဲ့သို့သော သွေဖည်မှုများကြောင့် ယင်း (အစ္စရာအီလီလူမျိုး)တို့ပေါ်ဝယ် ဂုဏ်ရည်သေးသိမ်ခြင်းနှင့် ဒုက္ခဆင်းရဲခြင်းတို့သည် အတည်ဖြစ်ခဲ့ချေပြီ။ ထို့ပြင် ထိုသူတို့သည် အလ္လာဟ် အရှင်မြတ်၏ အမျက်တော်စူးရှခြင်းကို ခံစားကြရချေပြီ။ ယင်း(ကဲ့သို့ အပြစ်ဒဏ်အမျိုးမျိုး ခံစားရခြင်း)၏ အကြောင်းမှာ အလ္လာဟ်အရှင်မြတ် ပို့ချပေးသနားတော်မူသော တရားဒေသနာတော်များကို မယုံမကြည် သွေဖည်ငြင်းဆန်လေ့ ရှိခြင်းကြောင့်၎င်း၊ နဗီတမန်တော်များအား မတရားသဖြင့် (နှိပ်စက်ညှဉ်းပန်း) သတ်ဖြတ်လေ့ ရှိခြင်းကြောင့်၎င်း၊ ဖြစ်ပေသည်။ ယင်းကဲ့သို့ ပြစ်မှုကျူးလွန်ခြင်းများသည် ထိုသူတို့၏ ဖီဆန်ပုန်ကန်ခြင်းနှင့် စည်းကမ်း ဖောက်ဖျက်လေ့ရှိခြင်းများ ကြောင့်ပင်တည်း။

إِنَّ الَّذِينَ آمَنُوا وَالَّذِينَ هَادُوا وَالنَّصَارَىٰ وَالصَّابِئِينَ مَنْ آمَنَ بِاللَّهِ وَالْيَوْمِ الْآخِرِ وَعَمِلَ صَالِحًا فَلَهُمْ أَجْرُهُمْ عِندَ رَبِّهِمْ وَلَا خَوْفٌ عَلَيْهِمْ وَلَا هُمْ يَحْزَنُونَ ﴿٦٢﴾

၆၂။ ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိသော 'မုအ်မင်' များသည်၄င်း၊ ယဟူဒီ များသည်၄င်း၊ ခရစ်ယာန် များသည်၄င်း၊ ဆွာဗိအီ များသည်၄င်း၊ မည်သူမဆို အလ္လာဟ်အရှင်မြတ်ကို၄င်း၊ (သေပြီး နောက် ရှင်ပြန်ထရမည့်) နောက်ဆုံး နေ့ကို၄င်း၊ ယုံကြည်၍ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည် ခဲ့ပါလျှင် ထိုသူတို့အတွက် အရာ မိမိ တို့အား မွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ် အထံတော်၌ ကုသိုလ်အကျိုးသည် အသင့်ရှိ၏။ ထို့နောက် ယင်းသူတို့အဘို့ မည်သည့် တစုံတရာမျှ စိုးရိမ် ကြောင့်ကြခြင်းလည်းမရှိပေ၊ ဝမ်းနည်း ပူဆွေး ကြရမည်လည်း မဟုတ်ချေ။ ၁

وَإِذْ أَخَذْنَا مِيثَاقَكُمْ وَرَفَعْنَا فَوْقَكُمُ الطُّورَ خُذُوا مَا آتَيْنَاكُم بِقُوَّةٍ وَاذْكُرُوا مَا فِيهِ لَعَلَّكُمْ تَتَّقُونَ ﴿٦٣﴾

၆၃။ (အို-အစ္စရာအီလီမျိုးနွယ် အပေါင်းတို့၊ ပြန်လည်အောက်မေ့သတိရကြကုန်လော့) အခါတပါး၌ ငါအရှင်သည် အသင်တို့အထက်ဝယ် 'တူရ်' အမည် ရှိသောတောင်ကို ပင့်မြှောက်လျက် (တောင်ရာတ် ကျမ်းမြတ်နှင့်အညီ လိုက်နာကျင့်မှုကြရမည့် အကြောင်း) အသင်တို့ထံမှ (ဤသို့) ပဋိညာဉ် ဝန်ခံချက်ကို ယူတော်မူခဲ့လေသည်။

---

၁ **ဆက်စပ်မှု**

ကုရ်အာန်ကျမ်းမြတ် (၂း၆၁) တွင် အစ္စရာအီလီလူမျိုးတို့အပေါ်၌ ဂုဏ်ရည်သေးသိမ်ခြင်းနှင့် ဒုက္ခဆင်းရဲခြင်းသည် သတ်မှတ်ပြီးဖြစ်၍ ယင်းသူတို့သည် အလ္လာဟ်အရှင်မြတ်၏ အမျက်တော် စူးရှခြင်းကိုလည်း ခံကြရလေပြီဟု မိန့်ဆိုထားရှိပေရာ အစ္စရာအီလီလူမျိုးတို့သည် ယခုမူ ငါတို့သည်အရှင်မြတ်၏ ကရုဏာတော်မှ လုံးဝကင်းဝေးကြရလေပြီဟု ယူကျုံးမရ ပူဆွေးကြရတော့မည်ဖြစ်၏။

ဤသို့မတွေးမထင်ကြစေရန် အလို့ငှါ အလ္လာဟ်အရှင်မြတ်သည် နောက်ဆက်ပါဒ(၂း၆၂)ကို ထုတ်ပြန်ချမှတ်တော်မူ၍ အစ္စရာအီလီလူမျိုးတို့ ခံစားကြရသော အပြစ်ဒဏ်မှာမူ ယင်းတို့၏ ကိုယ်ကျင့်တရားပျက်ပြားမှု၏ အကျိုးတရားမျှသာဖြစ်ကြောင်း၊ လူမျိုးဘာသာမခြား ဆင်းရဲချမ်းသာမရွေး မည်သူပင် ဖြစ်စေ။ မည်မျှပင် ဒုစရိုက်မှုများကို ကျူးလွန်ခဲ့စေကာမူ သတိသံဝေဂ နောင်တတရားရ၍ ဖြူစင်သော ယုံကြည်ခြင်း သဒ္ဓါတရားကို နှလုံးသွင်းလျက် ကောင်းမြတ်သော သီလများကို ဆောက်တည်ပါမူ၊ ➤➤

"အသင်တို့အား ငါ အရှင် ပေးသနားတော်မူသော တောင်ရာတ်ကျမ်းမြတ်ကို စွဲစွဲမြဲမြဲ လက်ကိုင်ထားကြကုန်။ ထို့နောက် ယင်းကျမ်းလာ တရားဒေသနာတော်များကိုလည်း (သတိဝီရိယနှင့်) လေ့ကျက်မှတ်သား (ကျင့်မှု) ကြကုန်လော့၊ သို့မှသာလျှင် အသင်တို့သည် (ဒုစရိုက်မှုများမှ) ကြဉ်ရှောင်သူများ ဖြစ်တန်ကြရာ၏။"

ثُمَّ تَوَلَّيْتُم مِّنۢ بَعْدِ ذَٰلِكَ ۖ فَلَوْلَا فَضْلُ ٱللَّهِ عَلَيْكُمْ وَرَحْمَتُهُۥ لَكُنتُم مِّنَ ٱلْخَٰسِرِينَ ﴿٦٤﴾

၆၄။ ထို့နောက် အသင်တို့သည် (ထိုကဲ့သို့ တိကျခိုင်လုံစွာ) ပဋိညာဉ် ကတိသစ္စာကို ထုံးဖွဲ့ပြီးသည့်နောက် (ကတိမတည်) နောက်သို့ ပြန်လှည့်ထွက်သွားခဲ့ကြကုန်၏။ ထို့နောက် အကယ်၍ အလ္လာဟ် အရှင်မြတ်၏ ကျေးဇူးတော်နှင့် မဟာကရုဏာတော်သည် အသင်တို့ အပေါ်ဝယ် သက်ရောက်ခြင်း မရှိခဲ့ပါမူ အသင်တို့သည် မုချဧကန် ဆုံးရှုံးနစ်နာ ပျက်စီးသူများ ဖြစ်ကြပေပြီ။

وَلَقَدْ عَلِمْتُمُ ٱلَّذِينَ ٱعْتَدَوْا۟ مِنكُمْ فِى ٱلسَّبْتِ فَقُلْنَا لَهُمْ كُونُوا۟ قِرَدَةً خَٰسِـِٔينَ ﴿٦٥﴾

၆၅။ ငှင်းပြင် အသင်တို့အနက်မှ ဥပုသ်သီတင်းနေ့နှင့် စပ်လျဉ်း၍ (တရားတော်၏ ပညတ်ချက်များကို) ဖေါက်ဖျက် ကျူးလွန်ကြကုန်သောသူများအား ငါအရှင်က အသင်တို့သည် ယုတ်ညံ့သိမ်ဖျင်းသော မျောက်တိရစ္ဆာန်များ ဖြစ်ကြကုန်လော့ဟု မိန့်ကြားတော်မူခဲ့ဘူးသည်ကို အသင်တို့သည် မုချအသိပင် ဖြစ်ကြသည်။

➤➤အရှင့်ကရုဏာတော်ကို ခိုလှုံနိုင်ကြောင်း ဖော်ပြထားရှိတော်မူလေသည်။ ဤကားအတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန် ခေတ်သုံးတန်ရှိ လူခပ်သိမ်းတို့အဘို့ အကျိုးအပြစ်စီစစ်ရန် အဘိုးအနဂ္ဃတန်သော ဓမ္မကြေးမုံတည်း။

فَجَعَلْنٰهَا نَكَالًا لِّمَا بَيْنَ يَدَيْهَا وَمَا خَلْفَهَا وَمَوْعِظَةً لِّلْمُتَّقِيْنَ ﴿٦٦﴾

၆၆။ တဖန် ငါအရှင်မြတ်သည် ယင်းသူတို့၏ မျက်မှောက်၌ ရှိကြကုန်သော သူများနှင့် ယင်းသူတို့၏ နောင်လာ နောက်သားများ အတို့အရာ ထိုအတ္တုပ္ပတ္တိကို သတိသံဝေဂ ရဘွယ်ရာ အကြောင်းတရပ်အဖြစ်လည်းကောင်း၊ (အလ္လာဟ်အရှင်မြတ် ကို ကြောက်ရွံ့ ရိုသေခြင်းအားဖြင့်) ပြစ်မှု ဒုစရိုက်များကို ကြဉ်ရှောင်ကြကုန်သော သူတော်စဉ်များအတို့အရာ ဆုံးမသြဝါဒတရပ် အဖြစ်လည်းကောင်း ပြုထားတော်မူခဲ့လေသည်။

وَاِذْ قَالَ مُوْسٰى لِقَوْمِهٖۤ اِنَّ اللّٰهَ يَاْمُرُكُمْ اَنْ تَذْبَحُوْا بَقَرَةً ؕ قَالُوْۤا اَتَتَّخِذُنَا هُزُوًا ؕ قَالَ اَعُوْذُ بِاللّٰهِ اَنْ اَكُوْنَ مِنَ الْجٰهِلِيْنَ ﴿٦٧﴾

၆၇။ ၄င်းပြင် (အို-အစ္စရာအီလီ မျိုးနွယ်အပေါင်းတို့၊ အသင်တို့သည် ပြန်လည်အောက်မေ့သတိရကြကုန်လော့) အခါတပါး၌ နဗီတမန်တော်မူစာ (အလိုင်ဟစ္စလာမ်)က မိမိအမျိုးသားများအား (ဤသို့)ပြောကြားလေသည်။ (ဟယ်-အချင်းတို့) အသင်တို့အား အလ္လာဟ် အရှင်မြတ်က (မိမိနာမံတော်ဖြင့်) နွားမတကောင်ကို လှီးဖြတ်ကြရန် မိန့်ကြားတော်မူလေသည်၊ ထိုအခါ ယင်းအမျိုးသားတို့က (အို-နဗီတမန်တော် မူစာ) အသင်သည် အကျွန်ုပ်တို့ကို ပြက်ရယ် ကျီစယ်ဘွယ် ပြုလုပ်ပါသလောဟု မေးမြန်းကြကုန်သည်။ ထိုအခါ နဗီတမန်တော်မူစာ(အလိုင်ဟစ္စလာမ်)က (ဟယ်-အချင်းတို့၊ ပြက်ရယ်ကျီစယ်မှုသည် လူ့ဗါလများ၏ အလေ့အထမျှသာ ဖြစ်သည်၊ ကျွန်ုပ်သည်ကား လူ့ဗါလ မဟုတ်၊ သို့ဖြစ်ရာ) အကျွန်ုပ်သည် အသိအလိမ္မာ ဉာဏ်ပညာကင်းမဲ့ကြကုန်သော လူ့ဗါလတို့အနက် အပါအဝင်မဖြစ်ရန် အလ္လာဟ်အရှင်မြတ်အထံ တော်၌ ခိုလှုံပါ၏ဟု ပြန်လည် ဖြေကြားလေသည်။

قَالُوا ادْعُ لَنَا رَبَّكَ يُبَيِّنْ
لَّنَا مَا هِيَ ۚ قَالَ إِنَّهُ يَقُولُ
إِنَّهَا بَقَرَةٌ لَّا فَارِضٌ وَلَا
بِكْرٌ عَوَانٌ بَيْنَ ذَٰلِكَ ۖ
فَافْعَلُوا مَا تُؤْمَرُونَ ﴿٦٨﴾

၆၈။ (ထိုအခါ) ယင်းအမျိုးသားတို့က အို-နဗီ တမန်တော်မူစာ (အလိုင်ဟစ္စလာမ်) အသင်သည် မိမိအား မွေးမြူတော်မူသော အရှင်မြတ်၏အထံတော်၌ ကျွန်တော်များ သိနားလည်နိုင်ရန်အတို့ ထိုနွားမသည် အဘယ်ကဲ့သို့သော နွားမဖြစ်သည်ကို ရှင်းလင်းဖော်ပြပါမည့်အကြောင်း လျှောက်ထားပန်ကြား၍ ပေးတော်မူပါ ဟု တောင်းပန်လျှောက်ထားကြကုန်၏။ ထိုအခါ မူစာ(အလိုင်ဟစ္စလာမ်)က (ဟယ်-အချင်းတို့) ထိုအရှင်မြတ်က ဧကန်စင်စစ် ထိုနွားမသည် အသက်ကြီး၍ အိုမင်းရင့်ရော်ခြင်းသည်လည်း မရှိစေရ၊ အလွန်နုပျိုသော နွားမတမ်းလည်း မဖြစ်စေရ၊ ယင်းနှစ်မျိုး၏အကြား၌ (အသက်အရွယ်အားဖြင့် မကြီးမငယ်)အလတ်စားပင် ဖြစ်စေရမည်ဟု မိန့်ကြားတော်မူသည်။ သို့ဖြစ်ရာ သင်တို့သည် အမိန့်တော်အတိုင်း လိုက်နာကျင့်မူကြကုန်လော့ဟူ၍ ဖြေကြားခဲ့လေသည်။

قَالُوا ادْعُ لَنَا رَبَّكَ يُبَيِّنْ
لَّنَا مَا لَوْنُهَا ۚ قَالَ إِنَّهُ
يَقُولُ إِنَّهَا بَقَرَةٌ صَفْرَاءُ
فَاقِعٌ لَّوْنُهَا تَسُرُّ
النَّاظِرِينَ ﴿٦٩﴾

၆၉။ (တဖန်) ယင်းအမျိုးသားများက (အို-နဗီ တမန်တော်မူစာ) ကျွန်တော်မျိုးများသိနားလည်ရန်အတို့ အသင့်အားမွေးမြူတော်မူသော အရှင်၏အထံတော်၌ ထိုနွားမ၏အသွေးအရောင် အဘယ်ကဲ့သို့ ဖြစ်သည်ကို ကျွန်တော်မျိုးတို့အားရှင်းလင်းဖော်ပြပေးသနားတော်မူရန် ဆုတောင်းပတ္ထနာပြုပေးပါဦး ဟု တောင်းပန်လျှောက်ထားကြသည်။ ထိုအခါ နဗီ တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)က ပြန်လည်ဖြေကြားတော်မူသည်မှာ (အို-အချင်းတို့) ဧကန်စင်စစ် ယင်းနွားမသည် အဝါရင့်ရောင်တောက်ပြောင်လျက်ရှိပြီး ကြည့်ရှုသူများအားစက္ခုပသာဒဖြစ်စေ၍ (စိတ်ကို) ကြည်လင်ရွှင်လန်းစေနိုင်သော နွားမပင်ဖြစ်စေရမည် ဟု အလ္လာဟ်အရှင်မြတ်က မိန့်ကြားတော်မူသည်။

قَالُوا ادْعُ لَنَا رَبَّكَ يُبَيِّنْ لَّنَا مَا هِيَ إِنَّ الْبَقَرَ تَشَابَهَ عَلَيْنَا ۖ وَإِنَّا إِن شَاءَ اللَّهُ لَمُهْتَدُونَ ﴿٧٠﴾

၇၀။ ယင်းသူတို့က (ထပ်မံ၍) ပြောဆိုကြသည်မှာ (အို-နဗီတမန်တော် မူစာ) ကျွန်တော်မျိုးတို့၏ မျက်မြင်တွင်မူ နွားများသည် ရုပ်ဆင်းသဏ္ဌာန် အရာ၌(တကောင်နှင့် တကောင်) ဆင်တူရိုးမှား ဖြစ်နေကြသဖြင့် ကျွန်တော်များအတို့ ထိုနွားမသည် အဘယ်ကဲ့သို့သော (ကြန်အင်လက္ခဏာ) ရှိသည်ကို ရှင်းလင်း ဖော်ပြပေးသနားတော်မူပါရန် အသင့်ကို မွေးမြူတော်မူသော အရှင့်အထံတော်၌ ဆုတောင်း ပတ္တနာပြုပေးတော်မူပါဦး၊ အကယ်၍သာ အလ္လာဟ် အရှင်မြတ်၏ အလိုတော်ရှိခဲ့ပါလျှင် ကျွန်တော်မျိုးတို့ သည် (ထိုနွားမကိုရှာဖွေရာ၌) နည်းမှန်လမ်းမှန်ကို ဧကန်မလွဲတွေ့ရှိသောသူများ ဖြစ်ကြပါလတ္တံ့။

قَالَ إِنَّهُ يَقُولُ إِنَّهَا بَقَرَةٌ لَّا ذَلُولٌ تُثِيرُ الْأَرْضَ وَلَا تَسْقِي الْحَرْثَ مُسَلَّمَةٌ لَّا شِيَةَ فِيهَا ۚ قَالُوا الْآنَ جِئْتَ بِالْحَقِّ ۚ فَذَبَحُوهَا وَمَا كَادُوا يَفْعَلُونَ ﴿٧١﴾

၇၁။ [ထိုအခါ နဗီတမန်တော်မူစာ(အလိုင်ဟစ္စလာမ်)က (ဟယ်-အချင်းတို့) အလ္လာဟ်အရှင်မြတ်က (ဤကဲ့သို့)မိန့်ကြားတော်မူသည်။] အမှန်စင်စစ် ယင်းနွားမသည် လယ်မြေ၌ ပင်ပန်းစွာ စေစားခြင်း၊ ထွန်ယက်ဘူးခြင်းသော်လည်းကောင်း၊ (ထွန်ယက်ပြီးသော) လယ်ယာမြေများထဲသို့ ရေသွင်းပေးဘူးခြင်းသော်လည်းကောင်း မရှိစေရ၊ ထို့ပြင် မှဲ့စွန်းခြင်း၊ ကွက်ကျားခြင်း (အစရှိသော ချို့တဲ့ခြင်းအပေါင်းတို့) မှလည်း ကင်းစင်သော နွားမ ဖြစ်ရမည်ဟု ဖြေကြားလေသည်။ (ယင်းကဲ့သို့ အဖြေများကို ရရှိသော အခါ) ထိုသူတို့က (အို-နဗီတမန်တော် မူစာ) ယခုမှသာလျှင် အသင်သည် ဤကိစ္စကို (အကျွန်ုပ်တို့အား) မှန်ကန်စွာ ရှင်းလင်းဖော်ပြ ညွှန်ကြား ပြသလေပြီ(ဟု ဝန်ခံကြ ပြီးနောက် ထိုကဲ့သို့သော နွားမတကောင်ကို လိုက်လံရှာဖွေ၍ အရှင်မြတ်၏နာမံတော်ဖြင့်) သတ်ဖြတ်ကြကုန်၏။

သို့သော် စင်စစ် ထိုသူဝို့သည် (ထိုအမိန့်တော်ကို) လိုက်နာပြုလုပ်ချင်ဟန် မရှိခဲ့ကြချေ။ [၁]

وَإِذْ قَتَلْتُمْ نَفْسًا فَادّٰرَءْتُمْ فِيهَا ۖ وَاللَّهُ مُخْرِجٌ مَّا كُنتُمْ تَكْتُمُونَ ﴿٧٢﴾

၇၂။ ၄င်းပြင် (အို-အစ္စရာအီလ်၏ မျိုးနွယ်အပေါင်းတို့၊ အသင်တို့သည် ပြန်လည်၍ အောက်မေ့ သတိရကြကုန်လော့) အခါတပါး၌ အသင်တို့သည် လူတဦးကို သတ်ဖြတ်ကြပြီးနောက် ယင်းလူသတ်မှုနှင့်စပ်လျဉ်း၍ အသင်တို့ အချင်းချင်း တစ်ဦးကိုတစ်ဦး စွပ်စွဲခဲ့ကြကုန်သည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် သင်တို့ (အနက်မှ ကာယကံရှင်များက) ထိမ်ချန် လျှို့ဝှက်ထားသော ကိစ္စကို ဖွင့်ထုတ်ဖော်ပြ ရှင်းလင်းတော်မူမည့်အရှင် ဖြစ်တော်မူသည်။

فَقُلْنَا اضْرِبُوهُ بِبَعْضِهَا ۚ كَذَٰلِكَ يُحْيِي اللَّهُ الْمَوْتَىٰ وَيُرِيكُمْ آيَاتِهِ لَعَلَّكُمْ تَعْقِلُونَ ﴿٧٣﴾

၇၃။ ထို့နောက် ငါအရှင်မြတ်သည် (ဤသို့) မိန့်ကြားတော်မူခဲ့လေသည်၊ အသင်တို့သည် ယင်း (အသတ်ခံရသောသူ၏ ရုပ်ကလာပ်)ကို ထို (နွားမ)၏ အချို့ အစိတ်အပိုင်းဖြင့် ရိုက်ခတ် ကြကုန်လော့။ အလ္လာဟ် အရှင်မြတ်သည် ("ကိယာမတ်" ရှင်ပြန်ထရမည့် နေ့၌လည်း) ထိုကဲ့သို့ပင် သေသူများအား ရှင်စေတော်မူလတ္တံ့။ ထို့ပြင် ထိုအရှင်မြတ်သည် အသင်တို့ နားလည်ကြရန်အလို့ငှါ မိမိ၏သက်သေခံ လက္ခဏာရုပ်များကို ပြသတော် မူလေသတည်း။

---

(၁) အလ္လာဟ်အရှင်မြတ်ကို တိုင်တည်၍ နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)က မိန့်ကြားတော်မူသည်မှာ အကယ်၍ အစ္စရာအီလီ လူမျိုးတို့သည် အမိန့်တော် ကျလျှင်ကျခြင်း ကြိုက်နှစ်သက်ရာ နွားမတကောင်ကိုသာ အရှင့်နာမံတော်ဖြင့် လှီးဖြတ်ခဲ့ကြပါသော် ထိုသူတို့အဘို့ တာဝန်သည် ကျေပြွန်လေ၏။ သို့သော် ထိုသူတို့သည် မိမိတို့ကိုယ်တိုင် အမျိုးမျိုးသော စောဒကများတက်ခြင်းဖြင့် မိမိတို့အဘို့ ခဲယဉ်းမှုကို ဖန်တီးလာကြရာ အလ္လာဟ်အရှင်မြတ်ကလည်း ယင်းသူတို့အဘို့ ခဲယဉ်းမှုကိုပင် ဖြစ်စေတော်မူခဲ့လေသတည်း။

ثُمَّ قَسَتۡ قُلُوبُكُم مِّنۢ بَعۡدِ ذَٰلِكَ فَهِيَ كَٱلۡحِجَارَةِ أَوۡ أَشَدُّ قَسۡوَةٗۚ وَإِنَّ مِنَ ٱلۡحِجَارَةِ لَمَا يَتَفَجَّرُ مِنۡهُ ٱلۡأَنۡهَٰرُۚ وَإِنَّ مِنۡهَا لَمَا يَشَّقَّقُ فَيَخۡرُجُ مِنۡهُ ٱلۡمَآءُۚ وَإِنَّ مِنۡهَا لَمَا يَهۡبِطُ مِنۡ خَشۡيَةِ ٱللَّهِۗ وَمَا ٱللَّهُ بِغَٰفِلٍ عَمَّا تَعۡمَلُونَ ۝٧٤

၇၄။ တဖန် အသင်တို့၏ စိတ်နှလုံးများသည် ထို(ကဲ့သို့ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးပြဋ္ဌိဟာ အမျိုးမျိုးတို့ကိုပင် တွေ့မြင်ခဲ့ပြီး) နောက်လည်း *ခက်ထန်မာကျောလာခဲ့လေသည်၊* [၁] သို့ဖြစ်ပေရာ ယင်းစိတ်နှလုံးများသည် ကျောက်ဆောင်များကဲ့သို့ ဖြစ်ခဲ့ရုံမျှမက ယင်းကျောက်ဆောင်များထက်ပင် ပိုမိုပြင်းထန် မာကျောလေသည်။

အကြောင်းသော်ကား ကျောက်ဆောင်များ အနက် စမ်းရေချောင်းများ စီးထွက်လာသော ကျောက် ဆောင် များလည်း မချွတ်မလွဲ ရှိကြသေး၏။ ထိုမျှ မကသေးချေ၊ ယင်း ကျောက်ဆောင်များ အနက် အက်ကွဲ၍ ရေ(တံခွန်များ စီးသွန်း) ပန်းထွက်လာသော ကျောက်ဆောင်များလည်း ဧကန်စင်စစ် ရှိကြသေး၏။

ထိုမှတပါးတုံ ယင်း ကျောက်ဆောင်များအနက် အလ္လာဟ်အရှင်မြတ်ကို ကြောက်ရွံ့ ရိုသေလေးစား ခြင်းအားဖြင့် လျှောလိမ့် နိမ့်ဆင်းလာသော ကျောက် ဆောင်များလည်း အမှန်ပင် ရှိကြကုန်သည်။

တဖန် အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ပြုကျင့်ကြကုန်သော ကိစ္စအဝဝတို့ကို (အလျင်း) မေ့လျော့ လျစ်လျူရှု၍ နေတော်မူသော အရှင် မဟုတ်ပေ။

---

(၁) ကုရ်အာန်ကျမ်းမြတ် (၂း၆၇-၇၃) တွင် ဖော်ပြ ပါရှိသည့်အတိုင်း အလ္လာဟ် အရှင်မြတ်သည် အစ္စရာအီလီလူမျိုးတို့အား တမလွန်ဘဝတွင် ပြန်လည် ရှင်ထကြရမည့်အရေးနှင့် စပ်လျဉ်း၍ ဒိဋ္ဌဓမ္မ သာဓကေ အဖြစ်ဖြင့် မိမိ၏တန်ခိုးအာနုဘော်များကို ထင်ရှားစွာ ပြတော်မူပြီးနောက်သော်မှပင် ယင်းသူတို့အနက် အချို့၏စိတ်နှလုံးများသည် ကျောက်တုံးများပမာ အချို့တို့မှာမူ ကျောက်တုံးထက်ပင် မာကျောခက်ထန်လာလေ၏။ ဤအကြောင်းကို ကုရ်အာန်ကျမ်းမြတ် (၅၇း၁၆)တွင် ဖော်ပြထားသည်။

اَفَتَطۡمَعُوۡنَ اَنۡ يُّؤۡمِنُوۡا لَـكُمۡ وَقَدۡ كَانَ فَرِيۡقٌ مِّنۡهُمۡ يَسۡمَعُوۡنَ كَلٰمَ اللّٰهِ ثُمَّ يُحَرِّفُوۡنَهٗ مِنۡۢ بَعۡدِ مَا عَقَلُوۡهُ وَهُمۡ يَعۡلَمُوۡنَ ۝٧٥

၇၅။ (အို- 'မုအ်မင်န်' ယုံကြည်သူအပေါင်းတို့) အသင်တို့သည် (အစ္စရာအီလီ လူမျိုးတို့၏ စိတ်နှလုံး မာကျောခြင်းကို သိရှိပြီး ဖြစ်ကြပါလျက်) ထို သူတို့သည် အသင်တို့ (၏ ဆုံးမဩဝါဒ ဟောပြော ချက်များ)ကို ယုံကြည်၍ သဒ္ဓါတရား ထားရှိကြကုန်အံ့ ဟု မြော်ခေါ်တောင်းတ ကြပါသလော။ (စင်စစ် ယင်းကဲ့သို့ မြော်လင့်ခြင်းသည် အချည်းနှီး ပင်) အကြောင်းမူကား ယင်းသူတို့တွင် အလ္လာဟ် အရှင်မြတ်၏ မုကဒ္ဒပါဠ်တော်များကို ကြားနာကြ ရသောသူများ အမှန်ပင် ရှိကြလေသည်၊ (သိကြား နာ၍ ထိုမုကဒ္ဒပါဠ်တော်များကို သိကျွမ်း နားလည် ပြီးနောက် မိမိတို့ အလိုရှိသည့်အတိုင်း) ပြုပြင် ပြောင်းလွဲ ကြကုန်သည်။ စင်စစ် (ထိုကဲ့သို့ ပြောင်းလွဲ ခြင်းသည် မပြုသင့် မပြုအပ် ကြောင်းကိုလည်း) မိမိတို့ကိုယ်တိုင် သိရှိကြလေသတည်း။

وَاِذَا لَقُوا الَّذِيۡنَ اٰمَنُوۡا قَالُوۡٓا اٰمَنَّا ۖۚ وَاِذَا خَلَا بَعۡضُهُمۡ اِلٰى بَعۡضٍ قَالُوۡٓا اَتُحَدِّثُوۡنَهُمۡ بِمَا فَتَحَ اللّٰهُ عَلَيۡکُمۡ لِيُحَآجُّوۡكُمۡ بِهٖ عِنۡدَ رَبِّكُمۡ ؕ اَفَلَا تَعۡقِلُوۡنَ ۝٧٦

၇၆။ ၎င်းပြင် (မွတ်စ်လင်မ်ယောင်ဆောင်သော) ယဟူဒီများသည် ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိကြသော မုအ်မင်န်များနှင့် တွေ့ဆုံကြသော အခါ (ဥပါယ်တမျဉ်ဖြင့် ယုံကြည်ဟန် ဆောင်၍) ကျွနုပ်တို့သည်လည်း (အသင်တို့ ကဲ့သို့ပင်) ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိကြပါသည်ဟု ပြောဆိုကြကုန်၏။ သို့သော် ယင်းသူတို့အနက်မှ အချို့သည် အခြားသော (ယဟူဒီများနှင့် ဆိတ်ကွယ် ရာ၌) တွေ့ဆုံကြသောအခါ အချင်းတို့- အသင် တို့သည် အလ္လာဟ်အရှင်မြတ်က (တောင်ရာတ် ကျမ်း၌) သင်တို့ကို ဖွင့်လှစ်ထုတ်ဖော် ပြသတော် မူထားသော အကြောင်းအရာများနှင့် စပ်လျဉ်း၍ ထိုမုအ်မင်န်များကို သတင်းများ ပေးပို့ကြပါသလော၊

ယင်းသူတို့သည် နောင်ခါကာလ၌ အသင်တို့အား မွေးမြူတော် မူသော (အလ္လာဟ်) အရှင်မြတ် အထံတော်တွင် ထိုအကြောင်းအရာ များကိုပင် အခြေပြုကာ သင်တို့နှင့်ဘက်ပြိုင်ငြင်းခုံကြကုန်အံ့။ သင်တို့သည် ဤမျှလောက် (ထင်ရှားလှစွာသော အကျိုးအကြောင်းများကိုပင်) အသိဉာဏ်မရှိ မသိနားမလည်နိုင် ကြပါသလောဟု (တဦးကိုတဦး ပြစ်တင်စကား) ပြောကြားကြကုန်သတည်း။ [၁]

أَوَلَا يَعْلَمُونَ أَنَّ اللّٰهَ يَعْلَمُ مَا يُسِرُّونَ وَمَا يُعْلِنُونَ ٧٧

၇၇။ ထိုသူတို့သည် (မိမိတို့ စိတ်တွင်းဝယ်) တိတ်တဆိတ် လျှို့ဝှက်ထားကြသော အကြောင်းအရာ ခပ်သိမ်းတို့ကိုလည်းကောင်း၊ အထင်အရှား ပွင့်လင်းစွာ ထုတ်ဖော်ပြောဆို ကြကုန်သော အကြောင်းအရာ ခပ်သိမ်းတို့ကို လည်းကောင်း၊ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် (မိမိ၏ သဗ္ဗညုတ ဉာဏ်တော်ဖြင့် အကြွင်းမဲ့) သိရှိတော်မူသည်ကို မသိကြလေသလော။

وَمِنْهُمْ أُمِّيُّونَ لَا يَعْلَمُونَ الْكِتٰبَ إِلَّآ أَمَانِيَّ وَإِنْ هُمْ إِلَّا يَظُنُّونَ ٧٨

၇၈။ ထိုမှတပါး ၎င်း(ယဟူဒီ)တို့ အတွင်းဝယ် စာပေကျမ်းဂန် မတတ်ကျွမ်းသူများလည်းရှိကြ၏။ ယင်းသူတို့သည် ကောလာဟလဖြစ်သော သတင်းများမှတပါး ကျမ်းဂန်များကိုမသိ နားမလည်ကြချေ၊ အမှန်သော်ကား ယင်းသူတို့သည် မိမိတို့ ထင်မိထင်ရာ တွေးတောရမ်းဆချက်များမှတပါး (အခြားမည်သည်ကိုမျှ အတိအကျသိရှိကြသည်) မဟုတ်ချေ။

---

(၁) **ဆက်စပ်မှု။**

ကုရ်အာန်ကျမ်းမြတ် (၂း၄၀-၅၅)တွင် နဗီတမန်တော်မူစာ(အလိုင်ဟစ္စလာမ်) လက်ထက်ကရှိခဲ့ဘူးသော ရှေးပဝေဏီ ယဟူဒီများ၏ ကိုယ်ကျင့်တရားများကို အလျဉ်းသင့်သည့်အားလျော်စွာ ဖော်ဆိုထားရှိခဲ့ပြီး၊ ယခုဤပါဒတွင် နဗီတမန်တော်မုဟမ္မဒ် (ဆွာလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်) လက်ထက်၌ရှိသော ယဟူဒီများ၏ ကိုယ်ကျင့်တရားကို ဖော်ပြထားရှိ၏။ကြည့်၊ စဗကုလ်ဃာယာတ်။

၇၉။ သို့ဖြစ်၍ ကျမ်းဂန်များကို မိမိတို့ကိုယ်တိုင် မိမိတို့လက်ဖြင့် စီရင်ရေးသားပြီး အနည်းငယ်မျှသောအဘိုးအခနှင့် လဲလှယ်ရောင်းချ(စားသုံး)ရန် အလို့ငှါ၊ ဤကျမ်းဂန်သည်ကား အလ္လာဟ်အရှင်မြတ်အထံတော်မှ (ထုတ်ပြန်ပို့ချတော်မူသော တရားဒေသနာတော်ကျမ်းဂန်)တည်း ဟူ၍ (လိမ်လည်) ပြောဆိုကြသော ယဟူဒီ သာသနာ့ ရှေ့ဆောင်ရှေ့ရပ်တို့သည် ပျက်စီးကြရကုန်လတ္တံ့။ တဖန် ယင်းသူတို့သည် မိမိတို့ကိုယ်တိုင် မိမိတို့လက်ဖြင့် (မဟုတ်မမှန်) ရေးသားခဲ့ခြင်းကြောင့်၄င်း၊ (မပြုထိုက်မပြုအပ်သော နည်းမျိုးဖြင့် ဥစ္စာပစ္စည်း) ရှာဖွေခြင်းကြောင့်၄င်း ပျက်စီးကြရလတ္တံ့။

فَوَيْلٌ لِّلَّذِينَ يَكْتُبُونَ الْكِتَابَ
بِأَيْدِيهِمْ ثُمَّ يَقُولُونَ
هَٰذَا مِنْ عِندِ اللَّهِ لِيَشْتَرُوا
بِهِ ثَمَنًا قَلِيلًا ۖ فَوَيْلٌ لَّهُم مِّمَّا
كَتَبَتْ أَيْدِيهِمْ وَوَيْلٌ لَّهُم
مِّمَّا يَكْسِبُونَ ﴿٧٩﴾

၈၀။ ထို့ပြင်တဝ ယင်း(ယဟူဒီ)တို့က (ငရဲ) မီးသည် ကျွန်ုပ်တို့ကို ရေတွက်ထားသောနေ့ရက် (အနည်းငယ်) မျှအပ (ကာလကြာမြင့်စွာ) အလျှင်း ထိရောက်မည်မဟုတ်ဟု ပြောဆိုကြပြန်သည်။ (အို–နဗီတမန်တော် မုဟမ္မဒ် ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) အသင်သည် (ယင်းယဟူဒီတို့ကို ဤသို့တုံ့ပြန်) မေးမြန်းပါလေ။ (ဟယ်–အချင်းတို့) အသင်တို့သည် (ဤအကြောင်းနှင့်စပ်လျဉ်း၍) အလ္လာဟ်အရှင်မြတ်၏အထံတော်မှ တစုံတခုသော ပဋိညာဉ်ကို ရယူထားကြပါသလော။ သို့ ရယူထားခဲ့ကြ ပါလျှင် အလ္လာဟ်အရှင်မြတ်သည် မိမိပြုထားတော် မူသော ပဋိညာဉ် ဝန်ခံချက်ကို မည်သည့်အခါမျှ ဖျက်တော်မူလိမ့်မည်မဟုတ်။ သို့တည်းမဟုတ် အသင်တို့သည် အလ္လာဟ် အရှင်မြတ်အပေါ်၌ မိမိတို့ မသိနားမလည်သော အကြောင်းတစုံတရာကို လည်ဆယ် ပြောဆိုကြပါသလော။

وَقَالُوا لَن تَمَسَّنَا النَّارُ إِلَّا
أَيَّامًا مَّعْدُودَةً ۚ قُلْ
أَتَّخَذْتُمْ عِندَ اللَّهِ عَهْدًا
فَلَن يُخْلِفَ اللَّهُ عَهْدَهُ ۖ أَمْ
تَقُولُونَ عَلَى اللَّهِ مَا لَا
تَعْلَمُونَ ﴿٨٠﴾

بَلٰى مَنْ كَسَبَ سَيِّئَةً
وَّاَحَاطَتْ بِهٖ خَطِيْٓـَٔتُهٗ
فَاُولٰٓئِكَ اَصْحٰبُ النَّارِ ۚ
هُمْ فِيْهَا خٰلِدُوْنَ ﴿٨١﴾

**၈၁။** (ယင်း ယဟူဒီတို့၏ စကားသည် လုံး၀ မှန်ကန်သည်မဟုတ်) စင်စစ်မှာကား မည်သူမဆို မကောင်းမှု အကုသိုလ်များကို ဆည်းပူးအံ့။ တဖန် (ယင်းသို့ ဆည်းပူးခြင်းအားဖြင့်) ထိုသူ၏ ပြစ်မှု ဒုစရိုက်များသည် ထိုသူအား ၀န်းခြံလျက် ရှိအံ့။ သို့ဖြစ်ခဲ့ပါလျှင် ထိုကဲ့သို့သော သူတို့သည် ငရဲသား များသာ ဖြစ်ကြကုန်၏၊ ထိုသူတို့သည် ထိုငရဲဘုံ၌ပင် ထာ၀စဉ်နေထိုင်ကြရလတ္တံ့။

وَالَّذِيْنَ اٰمَنُوْا وَعَمِلُوا
الصّٰلِحٰتِ اُولٰٓئِكَ اَصْحٰبُ
الْجَنَّةِ ۚ هُمْ فِيْهَا خٰلِدُوْنَ ﴿٨٢﴾

**၈၂။** သို့သော် အကြင်သူများသည် ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိ၍ ကောင်းမြတ်သော အကျင့်သီလ များကို ကျင့်မူဆောက်တည်ခဲ့ကြ၏၊ ထိုသူတို့သည် ဂျန္နတ် အမတ သုခဘုံသားများ ဖြစ်ကြကုန်၏။ ထိုသူများသည် ယင်း ဂျန္နတ် အမတ သုခဘုံ၌ အမြဲ ခံစားကြရမည့်သူများဖြစ်ကြ၏။ [၁]

وَاِذْ اَخَذْنَا مِيْثَاقَ بَنِيْٓ
اِسْرَآءِيْلَ لَا تَعْبُدُوْنَ
اِلَّا اللّٰهَ ۗ وَبِالْوَالِدَيْنِ

**၈၃။** ထို့ပြင်တ၀ အခါတပါး၌ ငါအရှင်မြတ်သည် အစ္စရာအီလီ မျိုးနွယ်များထံမှ အသင်တို့သည် အလ္လာဟ်အရှင်မြတ်မှအပ မည်သည့်အရာကိုမျှ ခ၀ပ် ရှိကျိုး ရှိခိုးပူဇော် *ကိုးကွယ်ဆည်းကပ်ခြင်း မပြုကြ ရမည့်အကြောင်း၊* [၂]

---

(၁) <u>ဖော်ပြချက်။</u>

ဂျန္နတ်အမတ သုခဘုံသို့လားခြင်းသည် အမျိုး၏မြင့်မြတ်ခြင်း၊ အသွေးအရောင်လုပတင့်တယ်ခြင်း စသည်တို့နှင့် အလျင်း မသက်ဆိုင်ပေ။ ယုံကြည်ခြင်း သဒ္ဓါတရားထားရှိ၍ ကောင်းမှုကုသိုလ် ပြုလုပ်ခြင်းပေါ်၌သာ တည်ရှိကြောင်းကို ဤမုက္ခပါဋ်တော်တွင် ထင်ရှားစွာ မိန့်ဆိုထားသည်။ ဤသဘောအတိုင်းပင် (၂း၆၂)တွင်လည်း ဖော်ပြပါရှိခဲ့ပေပြီ။

(၂) တဆူတည်းသောအလ္လာဟ်အရှင်မြတ်မှအပ အခြားမည်သည့်အရာကိုမျှ ခ၀ပ်ကိုးကွယ်ခြင်း မပြုအပ်ကြောင်းကို ကုရ်အာန်ကျမ်းမြတ်တွင် မြောက်မြားစွာသော မုက္ခပါဋ်တော်များ၌ ဖော်ပြထားရှိ၏။ တဆူတည်းသော အလ္လာဟ်အရှင်မြတ်အားသာလျှင် ခ၀ပ်ကိုးကွယ်ရမည်ဟူသော ဒေသနာတော်သည် အစ္စလာမ်သာသနာတော်၏ အခြေအမြစ် အဓိက အချုပ်တရားပင်ဖြစ်သည်။ တစုံတခုသော အရာကို အလ္လာဟ်အရှင်မြတ်နှင့် ➤➤

إِحْسَانًا وَّذِى الْقُرْبٰى
وَالْيَتٰمٰى وَالْمَسٰكِيْنِ
وَقُوْلُوْا لِلنَّاسِ حُسْنًا
وَّاَقِيْمُوا الصَّلٰوةَ وَاٰتُوا
الزَّكٰوةَ ؕ ثُمَّ تَوَلَّيْتُمْ
اِلَّا قَلِيْلًا مِّنْكُمْ
وَاَنْتُمْ مُّعْرِضُوْنَ ﴿٨٣﴾

ထို့ပြင် မာတာပိတ *မိဘနှစ်ပါးကိုငှင်း၊* [၁] သွေးချင်းနီးစပ်သော *ဆွေမျိုးရင်းချာတို့ကိုငှင်း၊* [၂] ဘသက် *ဆိုးများငှင်း၊* [၃] အထီးကျန် သူဆင်းရဲတို့ကိုငှင်း၊ ကောင်းမှု ပြုကြရမည့်အကြောင်း၊ ထို့မှုမက လူအပေါင်းတို့နှင့် (ပြောဆိုဆက်ဆံရာ၌ ကဏ္ဍ သုခပိယဝါစာဖြစ်သော သာယာချိုအေး ယဉ်ကျေးလှစွာသော (စကားများကိုသာ) ကောင်းမွန်စွာ ပြောဆိုကြရမည့် အကြောင်း၊ ဆွာလာတ်ဝတ်ပြုကြရမည့် အကြောင်းနှင့် ဇကာတ် တရားဝင်ဒါနကြေးကို ပေးဆောင် ကြရမည့်အကြောင်း ကတိဝန်ခံချက်ကို ယူတော်မူခဲ့လေသည်။ ထို(ကဲ့သို့ ခိုင်မာသော ပဋိညာဉ်ဝန်ခံချက်များကို ပြုပြီးသည့်) နောက် အသင်တို့အနက်မှ အနည်းငယ်မှအပ ကျန် အားလုံးတို့သည် (ယင်းပဋိညာဉ် ဝန်ခံချက်ကို ဖေါက်ဖျက်၍) နောက်ဆုတ်လှည့်ဖယ် ရှောင်သွားကြလေသည်။ စင်စစ်တမူကား အသင်တို့သည် (ဖြောင့်မတ် မှန်ကန်သောလမ်းမှ) သွေဖည်လေ့ရှိသော သူများသာ ဖြစ်ကြကုန်လေသတည်း။

---

➤➤ ဂုဏ်ရည်တူထင်မှတ်ယူဆ၍ ယှဉ်တွဲကိုးကွယ်ခြင်းမှာကား အစ္စလာမ်သာသနာတော်၌ အကြီးဆုံးသော အကုသိုလ်တရားပင်ဖြစ်သည်၊ သို့ယှဉ်တွဲကိုးကွယ်ခြင်းသည် မည်မျှကြီးလေးသော ဒုစရိုက်ဖြစ်သည်ကို ကုရ်အာန်ကျမ်းမြတ်တွင် ဤသို့ မိန့်ဆိုထားသည်။

အလ္လာဟ်အရှင်မြတ်သည် (အခြားတစုံတရာကို) မိမိနှင့်တွဲဘက်ယှဉ်ပြိုင် ကိုးကွယ်ခြင်းကို အလျင်းချမ်းသာခွင့် ပေးသနားတော်မူမည် မဟုတ်ပေ။ အခြား (ဒုစရိုက်မှုများ)ကိုမူ မိမိလိုရှိတော်မူသောသူအား ချမ်းသာခွင့် ပေးသနားတော်မူအံ့။ အမှန်သော်ကား (အခြားတစုံတရာကို) အလ္လာဟ်အရှင်မြတ်နှင့် တွဲဘက်ယှဉ်ပြိုင် ကိုးကွယ်သောသူသည် အလွန်ကြီးလေးသော အပြစ်ကို ပြုလုပ်သောသူပင်တည်း။ ကုရ်အာန် (၄း၄၈)။

(၁) ဖဝါးလက်နှစ်လုံး ပခုံးလက်နှစ်သစ်ကစ၍ ယုယပိုက်ထွေးနို့ချိုကျွေး၍ လူလားမြောက်အောင် ပြုစုရှာခဲ့ကြကုန်သော မာတာပိတ မိခင်ဘခင် ကျေးဇူးရှင်တို့၏ ကျေးဇူးတို့ကား များပြားလှ ပေသည်။

မိခင်ဘခင် ကျေးဇူးရှင်တို့အား မည်ကဲ့သို့ ပြုစုရမည်ကို ကုရ်အာန်ကျမ်းမြတ် ၂း၂၁၅၊ ၄း၃၆၊ ၆း၁၂၊ ၁၇း၂၃၊ ၂၉း၈၊ ၃၁း၁၄၊ ၄၆း၁၅ တွင်ငှင်း၊ မိဘများအတို့ ဆုတောင်းပတ္ထနာပြုရမည်ကို ၁၄း၄၁၊ ၁၇း၂၄၊ ၄၆း၁၅၊ ၇၁း၂၈ တွင်ငှင်း၊ ဖော်ပြထားသည်။ ➤➤

➤➤ မိခင်ဘခင် ကျေးဇူးရှင်နှစ်ပါးတို့အား ရိုသေစွာ လုပ်ကိုင်ကျွေးမွေး ပြုစုရမည့် အကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်ကျမ်းလာ အာယတ်တော်များအနက် အချို့အာယတ်တော်၏ အဓိပ္ပါယ်ကို ဖော်ပြပါအံ့။

အသင့်အား မွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်က အမိန့်တော်ထုတ်ပြန် ချမှတ်တော် မူသည်မှာ၊ အသင်တို့သည် ထိုအရှင်မြတ်ကိုသာလျှင် ခယရိုကျိုး ကိုးကွယ် ဆည်းကပ်ကြလေကုန်။ (အသင်တို့သည် ကျေးဇူးရှင်များဖြစ်သော) မိဘနှစ်ပါးအား ကောင်းစွာ ပြုစုကြကုန်။ မိခင်ဖြစ်စေ၊ ဘခင်ဖြစ်စေ၊ သို့မဟုတ် ၂ ပါးလုံးပင်ဖြစ်စေ အသင်၏ မျက်မှောက်တွင် ဇရာဒုဗ္ဗလ သက်ရွယ်ကြီးရင့် အိုမင်းမစွမ်းခြင်းသို့ ရောက်လတ်သည်ရှိသော် အသင်သည် ထို(သက်ဝါကြီးသော) မိဘနှစ်ပါးအား (ဝတ်ကြီးဝတ်ငယ် ပြုစုရာတွင်) ဖရုသဝါစာ ကြမ်းကြုတ်သောစကားကို မပြောဆိုလင့်၊ မငေါက်ငမ်းလေနှင့်။ ထိုမိဘနှစ်ပါးအား ပိယဝါစာ သာယာချိုအေးသော စကားကိုသာလျှင်ပြောဆို ပါလေ။ အသင်သည် မိဘတို့ ရှေ့မှောက်သို့ ဝင်ရောက်သောအခါ ဂါရဝနိဝါတ တရား လက်ကိုင်ထား၍ ခစားပါလေ။

အသင်သည် (ကျေးဇူးရှင်မိဘများအဘို့ ဤသို့)ဆုပန်ပါလေ၊ အို-ကျွန်တော် မျိုးအား မွေးမြူဖန်ဆင်းတော် မူသောအရှင်။ (ထိုမိဘများက) ကျွန်တော်မျိုးအား ငယ်ရွယ်စဉ် ကလေးဘဝတွင် (ချစ်ခင် ကြင်နာ ယုယစွာ) ပြုစုပျိုးထောင်သကဲ့သို့ ကိုယ်တော်အရှင် ကလည်း ထိုမိဘများ အပေါ်ဝယ် ကရုဏာထားတော်မူပါ။

ကြည့်၊ ကုရ်အာန် (၁၇:၂၃-၂၄)။

<u>"အမှန်စင်စစ် ဂျန္နတ်အမတ သုခဘုံသည် မိခင်များ၏ ခြေဖဝါးအောက်၌ တည်ရှိသည်"</u> ဟူသော နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဩဝါဒသည် အထက်ပါ ကုရ်အာန်ကျမ်းဂန်လာ ဒေသနာတော်များကို ထောက်ခံလျက်ရှိသည်။ သို့ဖြစ်ရာ အကျွန်ုပ်တို့သည် မိဘများအား အထူးသတိထား၍ ဂါရဝနိဝါတ တရားများဖြင့် အမြဲစောင့်ရှောက် ပြုစုကျွေးမွေးကြရာသတည်း။

(၂) မိဘများကို စောင့်ရှောက်ရမည့် ဝတ်တရားရှိသည့်အတိုင်း ဆွေမျိုးသားချင်းတို့ကိုလည်း ကောင်းမွန်စွာ ထောက်ပံ့သင်္ဂြိုဟ်ရမည်ကို ဤမုကဒ္ဒပါဠ်တော်တွင် မိန့်ဆိုထားလေသည်။

ဆွေမျိုးသားချင်းတို့နှင့် အဆက်ဖြတ်သူများသည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်နှင့် ကင်းဝေးကြမည့်အကြောင်း၊ ဆုံးရှုံးပျက်စီးကြရမည့် အကြောင်းနှင့် ဒုဂ္ဂတိလားကြရမည့် အကြောင်းများကို ကုရ်အာန်ကျမ်းမြတ် ၂:၂၇၊ ၁၃:၂၅၊ ၄၇:၂၂-၂၃ တွင် ဖော်ပြထားသည်။

"ဆွေမျိုးသားချင်းတို့နှင့် အဆက်ဖြတ်သောသူသည် 'ဂျန္နတ်' အမတသုခဘုံသို့ ဝင်ရမည်မဟုတ်" ဟု တမန်တော်မြတ်က မိန့်ကြားတော်မူခဲ့သည်။

(၃) ကြင်နာခြင်း၊ စာနာခြင်းတရား ထားရှိသောသူများမှာ ခိုကိုးရာမဲ့ မိသက်ဆိုး ဘသက်ဆိုး ကလေးသူငယ် လူမမယ်များ၏ ဖြစ်အင်တို့ကို တွေးဆမိက ယူကျုံးမရ ဖြစ်ကြမည်မှာ ယုံမှားဘွယ်ရာမရှိပေ။

နဗီတမန်တော် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ကိုယ်တော်တိုင်ပင်လျှင် ငယ်စဉ်ကပင် မိဘတို့၏အရိပ်မှ ကင်းကွာခဲ့ရရှာသဖြင့် မိမိနှင့်ဘဝတူ မိသက်ဆိုးဘသက်ဆိုးတို့ တွေ့ကြုံရသော ဒုက္ခကြီးငယ်ကို ကိုယ်တွေ့ပင်ဖြစ်ခဲ့၏။ တမန်တော်မြတ်သည် မိသက်ဆိုး ဘသက်ဆိုးများအပေါ်ဝယ် သနားကြင်နာခြင်းတရား ထားရှိသင့်ကြောင်းကို အောက်ပါအတိုင်း ဆုံးမဩဝါဒပေးတော်မူခဲ့သည်။ ➤➤

وَإِذْ أَخَذْنَا مِيثَاقَكُمْ لَا تَسْفِكُونَ دِمَاءَكُمْ وَلَا تُخْرِجُونَ أَنفُسَكُم مِّن دِيَارِكُمْ ثُمَّ أَقْرَرْتُمْ وَأَنتُمْ تَشْهَدُونَ ﴿٨٤﴾

၈၄။ ၄င်းပြင် (အို– အစ္စရာအီလီ မျိုးနွယ်အပေါင်းတို့၊ အသင်တို့သည် ပြန်လည်၍ အောက်မေ့ သတိရကြကုန်လော့) တပါးသောအခါ၌ ငါအရှင်သည် အသင်တို့ထံမှ အသင်တို့သည် မိမိတို့ အချင်းချင်း (သတ်ဖြတ်ကြ၍) သွေးထွက်သံယို မပြုကြရန်၄င်း၊ တဦးကိုတဦး မိမိတို့နေထိုင်ရာ အိုးအိမ် မြို့ရွာဒေသများမှလည်း နှင်ထုတ်ခြင်း မပြုကြရန်၄င်း၊ ပဋိညာဉ် ဝန်ခံချက်ကို ယူခဲ့ဘူးလေသည်၊ ထို့နောက် အသင်တို့သည် ထိုပဋိညာဉ် ဝန်ခံချက် ကတိသစ္စာကို အတည်ပြုကြရုံမျှမက မိမိတို့ ကိုယ်တိုင်ပင်လျှင် (ထိုအကြောင်းနှင့် စပ်လျဉ်း၍) အသိသက်သေများ ဖြစ်ကြလေသည်။

---

➤➤ မွတ်စ်လင်မ်အိမ်များတွင် အမြတ်ဆုံးသော အိမ်သည်ကား မိသက်ဆိုးဘသက်ဆိုးတို့ကို ကောင်းမွန်စွာပြုစုသောအိမ်ပင်တည်း။ အယုတ်ဆုံးသော အိမ်သည်ကား မိသက်ဆိုးဘသက်ဆိုးတို့ကို ဒုက္ခပေးသောအိမ်ပင်တည်းဟု နဗီတမန်တော်မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) မိန့်မှာခဲ့သည်။

နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) မိန့်မှာခဲ့သည်မှာ အကြင်သူတယောက်သည် မိသက်ဆိုး ဘသက်ဆိုး၏ ဦးခေါင်းကို ကိုယ်ကျိုးမဲ့ဘက် အလ္လာဟ်အရှင်မြတ်အတွက် ဖြူစင်သောစေတနာဖြင့် ပွတ်သပ်၏။ ထိုသူသည် မိမိလက်ဖြင့် ပွတ်သပ်မိသမျှသော ဆံပင်နှင့်အမျှ ကုသိုလ်အကျိုးကိုခံစားရအံ့။

အကြင်သူတဦးသည် မိမိထံ၌ရှိသော မိသက်ဆိုး ဘသက်ဆိုး မိန်းကလေးကိုဖြစ်စေ၊ ယောကျ်ားကလေးကိုဖြစ်စေ ကောင်းစွာပြုစု၏။ ထိုသူသည် ဤလက်ချောင်း ၂ ချောင်းပမာ 'ဂျန္နတ်' သုခဘုံတွင် ကျွန်ုပ်နှင့်အတူ စံမြန်းရအံ့ ဟု မိန့်တော်မူ၍ တမန်တော်မြတ်သည် မိမိ၏လက်ချောင်း ၂ ချောင်းကို ပူးတွဲ၍ ပြတော်မူလေသည်။

မိသက်ဆိုး ဘသက်ဆိုးတို့နှင့် မည်ကဲ့သို့ဆက်ဆံရမည့် အကြောင်းကို ကုရ်အာန်ကျမ်းမြတ်တွင် ဤသို့ဖော်ပြထားလေသည်။

(၁) မိသက်ဆိုး ဘသက်ဆိုး ကလေးသူငယ်များ၏ ကောင်းရာကောင်းကြောင်းကို ရှေ့ရှု၍ ပြုပြင်ဖန်တီးရမည်။ ကြည့်–ကုရ်အာန်(၂:၂၂၀)

(၂) မိဘမဲ့ကလေးများကို ပေးကမ်းလှူဒါန်းရမည်။ ကြည့်၊ ကုရ်အာန် (၂:၁၇၇၊ ၂:၂၁၅၊ ၄:၈)။

(၃) စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရာ၌ အရေးသာ၍ သိမ်းယူရရှိသော လက်ရသုံ့ပန်းပစ္စည်း အရပ်ရပ်အနက် မိဘမဲ့ကလေးများအား ဝေစုဝေပုံပါရှိစေရမည်။ ကြည့်၊ ကုရ်အာန် (၈:၄၁၊ ၅၉:၇)။

(၄) မိဘမဲ့တို့၏ ဥစ္စာပစ္စည်းများကို အလွဲသုံးစား မပြုအပ် ရှောင်ကြဉ်အပ်သည်။ ကြည့်၊ကုရ်အာန် (၄:၂၊ ၆:၁၅၂)။ ➤➤

ثُمَّ اَنْتُمْ هٰٓؤُلَآءِ تَقْتُلُوْنَ
اَنْفُسَكُمْ وَتُخْرِجُوْنَ فَرِيْقًا
مِّنْكُمْ مِّنْ دِيَارِهِمْ
تَظٰهَرُوْنَ عَلَيْهِمْ بِالْاِثْمِ
وَالْعُدْوَانِ ؕ وَاِنْ يَّاْتُوْكُمْ
اُسٰرٰى تُفٰدُوْهُمْ وَهُوَ
مُحَرَّمٌ عَلَيْكُمْ اِخْرَاجُهُمْ ؕ
اَفَتُؤْمِنُوْنَ بِبَعْضِ الْكِتٰبِ
وَتَكْفُرُوْنَ بِبَعْضٍ ۚ فَمَا
جَزَآءُ مَنْ يَّفْعَلُ ذٰلِكَ
مِنْكُمْ اِلَّا خِزْىٌ فِى الْحَيٰوةِ
الدُّنْيَا ۚ وَيَوْمَ الْقِيٰمَةِ
يُرَدُّوْنَ اِلٰٓى اَشَدِّ الْعَذَابِ ؕ

**၈၅။** ထို(ကဲ့သို့ ထင်ရှားစွာ ပဋိညာဉ် ဝန်ခံချက် ပြုကြပြီး)နောက် အသင်တို့ပင်လျှင် မိမိတို့အချင်းချင်း တဦးကိုတဦး သတ်ဖြတ်ကြ၍ မိမိတို့အနက်မှ လူတစုကို ထိုသူတို့၏ အိုးအိမ်မြို့ရွာများမှ နှင်ထုတ်ကြ၏။ ၄င်းပြင် အသင်တို့သည် ထိုသူတို့ကို ဆန့်ကျင်၍ အကုသိုလ် ဒုစရိုက်မှုများကို ပြုလုပ်ခြင်းအားဖြင့်၄င်း၊ မတရားသဖြင့် အကျိုးကျေးဇူး ပျက်စီး နစ်နာစေခြင်းအားဖြင့်၄င်း အသင်တို့သည် (ထိုသူတို့၏ရန်သူများအား) ယိုင်းပင်းကူညီကြလေသည်။ (ထိုကဲ့သို့ ပြုလုပ်ခြင်းအားဖြင့် အသင်တို့သည် ကတိဝန်ခံချက် နှစ်ရပ်လုံးကို ဖေါက်ဖျက်ကြ၏)။

သို့သော် တဖန် ယင်းလူစုသည် အသင်တို့ထံသို့ သုံ့ပန်းအဖြစ်ဖြင့် (ပြန်လည်) ရောက်ရှိကြသောအခါ အသင်တို့သည် ယင်းသူတို့အား (လျော်ကြေးပေး၍) ရွေးယူကြပြန်သည်၊ စင်စစ်ဆိုသော် ထိုသူတို့အား ထိုကဲ့သို့ (အိုးအိမ်မြို့ရွာများမှ) နှင်ထုတ်ခြင်းသည် သင်တို့အဘို့ မြစ်တားထားသော ပညတ်ချက် (တရပ်)ပင် ဖြစ်ပေသည်။ အသင်တို့သည် (တောင်ရာတ်) ကျမ်းတော်မြတ်၏ တစိတ်တဒေသကိုသာ ယုံကြည်လက်ခံကြ၍ အချို့ အမိန့်တော်များကို ငြင်းပယ်ကြလေသလော။

---

➤➤ (၅) မိသက်ဆိုး ဘသက်ဆိုးများကို မငေါက်ငမ်း မညှဉ်းပန်းရမည့်အကြောင်း။ ကြည့်၊ ကုရ်အာန် (၉၃:၉)။

မိဘမဲ့ကလေးများ၏ ပစ္စည်းဥစ္စာကို ကျူးလွန်စော်ကား အလွဲသုံးစားပြုသူများနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ်တွင် အောက်ပါအတိုင်း ကြောက်မက်ဖွယ်ရာ မိန့်ဆိုထားသည်။

အကြင်သူတို့သည် အဘမဲ့ကလေးများ၏ ဥစ္စာပစ္စည်းများကို မတရားသဖြင့် စားသုံးကြ၏။ ထိုသူများသည် မိမိတို့ဝမ်းတွင်း၌ ငရဲမီးကိုသာ မျိုသွင်းရာရောက်၏၊ ထိုသူတို့သည် မကြာမီကာလအတွင်း အလျှံပြောင်ပြောင် တောက်လောင်လျက်ရှိသော ငရဲမီးထဲ၌ လောင်ကျွမ်းကြအံ့။ (၄:၁၀)

وَمَا اللّٰهُ بِغَافِلٍ عَمَّا
تَعْمَلُونَ ۝٨٥

ထိုသို့ ဖြစ်ခဲ့ပါလျှင် အသင်တို့အနက်မှ ယင်းကဲ့သို့သော အပြုအမူကို ပြုကျင့်ကြကုန်သော သူများ၏ ထိုက်သင့်သောအကျိုးကား ဤလောက၌ အသက်ထင်ရှားရှိနေစဉ် အရှက်ကွဲခြင်း၊ ဂုဏ်အသရေ ယုတ်ညံ့ခြင်းမှအပ (အခြား)အဘယ်အရာဖြစ်နိုင်ဦး မည်နည်း။ ဤမျှမကသေး တဖန်နောင်တရားစီရင် ဆုံးဖြတ်မည့်နေ့တွင် ပိုမို၍ ပြင်းထန်လှစွာသော အပြစ်ဒဏ်ကို ခံစားကြရဦးမည်၊ စင်စစ်တမူကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ပြုကျင့်ကြ ကုန်သောကိစ္စ(အရပ်ရပ်တို့)ကို မေ့လျော့ လျစ်လျူရှု တော်မူမည့်အရှင် မဟုတ်ပေ။

أُولَٰئِكَ الَّذِينَ اشْتَرَوُا الْحَيَاةَ
الدُّنْيَا بِالْآخِرَةِ ۖ فَلَا يُخَفَّفُ
عَنْهُمُ الْعَذَابُ وَلَا هُمْ
يُنْصَرُونَ ۝٨٦

၈၆။ ဤသူများသည် ဤပစ္စုပ္ပန်ဘဝ(၏ စည်းစိမ် ချမ်းသာ) ကို နောင်တမလွန်ဘဝဖြင့် လဲလှယ် ဝယ်ယူကြသူများပင် ဖြစ်ကြသည်။ သို့လဲလှယ် ဝယ်ယူကြသည့်အတွက် ယင်းသူတို့သည် အပြစ်ဒဏ် ခံစားရာ၌ သက်သာစေခြင်း ခံကြရမည် မဟုတ်၊ (မည်သူတစုံတယောက်၏) ကယ်တင် စောင်မခြင်း ကိုမျှလည်း ခံကြရမည်မဟုတ်။

وَلَقَدْ آتَيْنَا مُوسَى الْكِتَابَ
وَقَفَّيْنَا مِنْ بَعْدِهِ بِالرُّسُلِ ۖ
وَآتَيْنَا عِيسَى ابْنَ مَرْيَمَ
الْبَيِّنَاتِ وَأَيَّدْنَاهُ بِرُوحِ
الْقُدُسِ ۗ أَفَكُلَّمَا جَاءَكُمْ

၈၇။ ထို့ပြင် (အို-အစ္စရာအီလီမျိုးနွယ် အပေါင်း တို့၊ အသင်တို့ တရားရစိမ့်သောငှါ) ငါအရှင် သည် (နဗီတမန်တော်) မူစာအား (တောင်ရာတ်) ကျမ်းတော်ကို မုချ ထုတ်ပြန်ပို့ချ ပေးသနား တော်မူခဲ့လေသည်။ တဖန် ထို (နဗီတမန်တော်) မူစာ၏ နောက်၌ (မြောက်မြားစွာသော) နဗီ တမန်တော်များကို တပါးပြီးတပါး အဆက်မပြတ် စေလွှတ်တော်မူခဲ့လေသည်။

رَسُوۡلٌۢ بِمَا لَا تَهۡوٰٓى اَنۡفُسُكُمُ
اسۡتَكۡبَرۡتُمۡ‌ۚ فَفَرِيۡقًا كَذَّبۡتُمۡ
وَفَرِيۡقًا تَقۡتُلُوۡنَ ۝٨٧

ထို့နောက် မရ်ယမ် [၁] (သခင်မ)၏သားတော် နဗီတမန်တော် *အီစာ* [၂] အား ထင်ရှားလှစွာသော သက်သေခံ လက္ခဏာ တန်ခိုး ပြာဋိဟာများကို ပေးသနားတော်မူခဲ့၏၊ ၎င်းပြင် ငါအရှင်သည် ထိုအီစာအား ရူဟုလ်ကုဒုစ်(ဝါ)အပါးတော်စေတမန် ဂျိဗ်ရီလ်ကို စေလွှတ်ခြင်းဖြင့် ကူညီအားပေးတော်မူခဲ့လေသည်။ သို့ဖြစ်ပါလျက်နှင့်ပင် မည်သည့်အခါမျိုးမဆို နဗီတမန်တော် တပါးပါးသည် အသင်တို့မနှစ်သက်သော အမိန့်တော်များကို အသင်တို့ထံသို့ ယူဆောင်လာခဲ့သည်ရှိသော် အသင်တို့သည် မောက်မာပလွှားကြပြီး (ယင်းအမိန့်တော်များကို မလိုက်နာမကျင့်မူလိုသောကြောင့် ထိုနဗီတမန်တော်များအနက်မှ)တစုကို မဟုတ်မလျား မုသားပြောဆိုကြသူများဟုစွပ်စွဲ၍ တစုကိုမူ (ရက်စက် ကြမ်းကြုတ်စွာ) သတ်ဖြတ်ကြကုန်သည် (မဟုတ်ပါလော)။

---

(၁) မရ်ယမ်သည် နဗီတမန်တော် အီစာ(အလိုင်ဟစ္စလာမ်)၏ မွေးသမိခင် ကျေးဇူးရှင်ဖြစ်သည်။ မရ်ယမ်သခင်မ၏ ဘခင်မှာ အိမ်ရာန်ဖြစ်သည်။ (ကြည့်၊ ကုရ်အာန် ၃:၃၄-၃၅)။

မရ်ယမ်သခင်မ၌ ခင်ပွန်းယောကျာ်း မရှိဘဲလျက် အလ္လာဟ်အရှင်မြတ်၏ ဘုန်းသမ္ဘာဖြင့် သားတော် နဗီတမန်တော် အီစာဘွားမြင်ခဲ့သည်၊ (ကြည့်၊ ကုရ်အာန် ၃:၅၈၊ ၁၉:၁၆၊ ၂၂:၂၀-၉၁၊ ၆၆:၁၂)။

မရ်ယမ်သခင်မ၌ ခင်ပွန်းယောကျာ်းမရှိဘဲလျက် သားဘွားမြင်သည်ကို အကြောင်းပြု၍ အချို့သူယုတ်မာတို့က မရ်ယမ်သခင်မအား မဟုတ်မလျား စွပ်စွဲ၍ ပြောဆိုကြသည်။

အမှန်စင်စစ် မရ်ယမ်သခင်မသည် မိမိကာယိန္ဒြေတို့ကို စောင့်ထိန်းသော မိန်းမမြတ်တဦးဖြစ်ကြောင်း ကုရ်အာန် ( ၂၁:၉၁၊ ၆၆:၁၂)တွင် အတည့်အလင်း ဖော်ပြထားသည်။ ဤမျှမကသေး မရ်ယမ်သခင်မသည် ကမ္ဘာ့အမျိုးသမီးတို့တွင် မိန်းမမြတ်တဦးအဖြစ် ရွေးချယ်မြှောက်စားခြင်းကိုလည်း ခံခဲ့ရပေသည်။

(ကြည့်၊ ကုရ်အာန် ၃:၄၁)။

(၂) အစ္စရာအီလီလူမျိုးတို့၌ ပွင့်လေသမျှသော နဗီတမန်တော်များတွင် နဗီတမန်တော်အီစာ(အလိုင်ဟစ္စလာမ်) သည် နောက်ဆုံးပွင့်သော နဗီတမန်တော်ဖြစ်သည်။ နဗီတမန်တော်အီစာ(အလိုင်ဟစ္စလာမ်) ပွင့်တော်မူပြီးသည့်နောက် နှစ်ပေါင်း ၅၇၀ ခန့်ရှိသည့်အခါ နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ပွင့်လာချေသည်။ ထိုနဗီတမန်တော် ၂ ပါး၏ ကြားကာလ၌ နဗီတမန်တော်တပါးမျှ မပွင့်ခဲ့ဘူးချေ။ 

**>> မွေးဖွားသည့် ခုနှစ်သက္ကရာဇ်နှင့် မွေးဖွားရာဌာန။**

နဗီတမန်တော် အီစာ(အလိုင်ဟစ္စလာမ်)သည် လက်ရှိခရစ်သက္ကရာဇ်မစမီ ၃ နှစ်အလျင် ဖွားမြင်တော်မူလေသည်။ ထိုအချိန်တွင် ရောမတိုင်းကို ကဲသာသြဂုတ္တုဘုရင် စိုးစံတော်မူလေသည်၊ ထိုဘုရင်၏ကိုယ်စား စီရိယနိုင်ငံတွင် ဟေရုဒ်သည် ဘုရင်ခံအဖြစ် အုပ်ချုပ်လေသည်။

**ခရစ်တော်ဖွားမြင်ခြင်း အကြောင်း ကုရ်အာန်ကျမ်းမြတ် (၁၉း၁၆-၃၄)တွင် တွေ့ရှိရသည်။ အကျဉ်းသဘောမှာ အောက်ပါအတိုင်းဖြစ်သည်။**

တရံရောအခါ မရ်ယမ် သခင်မသည် မိမိ အိမ်သူအိမ်သား များနှင့် ခွဲခွါ၍ (ယေရုရှလင်ရှိ ဗိမာန်တော်၏) အရှေ့ဘက်၌ရှိသော အဆောင်တခုအတွင်း၌ တကိုယ်တည်း ဆိတ်ငြိမ်စွာ ဘာဝနာ စီးဖြန်းလျက်နေသည်။

ထိုအခါ အလ္လာဟ်အရှင်မြတ်သည် အပါးတော်စေတမန် ဂျိဗ်ရီလ်(အလိုင်ဟစ္စလာမ်)ကို မရ်ယမ်သခင်မထံသို့ စေလွှတ်တော်မူရာ ဂျိဗ်ရီလ်(အလိုင်ဟစ္စလာမ်)သည် လူသားအယောင် သဏ္ဍာန်ဆောင်၍ ရောက်လာပြီး အကျွန်ုပ်ကား အခြားမဟုတ်၊ အသင်အား မွေးမြူစောင့်ရှောက်တော်မူသော အရှင်မြတ်၏ အပါးတော်စေတမန်ဖြစ်သည်။ အသင်၌ သားရတနာ ထွန်းကားမည့်အကြောင်း သတင်းကောင်းပေးပို့ရန် လာခြင်းမျှသာဖြစ်ပါသည် ဟု ပြောကြားလေသည်။

မရ်ယမ်သခင်မက ကျွန်မ၌ အဘယ်မှာလျှင် သားရတနာ ရနိုင်ပါအံ့နည်း၊ ကျွန်မအား ယောကျ်ားတဦးတယောက်မျှ လက်ဖျားနှင့်မျှ ထိဘူးသည်လည်းမရှိ၊ ကျွန်မသည် မိန်းမတို့၏သီလနှင့် ကာယိန္ဒြေချိုးဖျက်သူ၊ ဟိရီဩတ္တပ္ပ အရှက်အကြောက်မရှိသူ မိန်းမယုတ်လည်း မဟုတ်၊ အပျိုစင်တဦး မဟုတ်ပါတကား ဟု ပြန်ကြားလေသည်။

ထိုအခါ ဂျိဗ်ရီလ်(အလိုင်ဟစ္စလာမ်)က ဤအတိုင်းပင်ဖြစ်မည်ဟု ပြောကြားလေသည်။ အသင့်အား မွေးမြူတော်မူသော အရှင်က (ခင်ပွန်းယောကျ်ား မထိပါးဘဲနှင့် သားရတနာဖြစ်ထွန်းစေခြင်းသည်) ငါအရှင်မြတ်အဘို့ အလွန်တရာမှ လွယ်ကူသော ကိစ္စတရပ်ဖြစ်သည်။ ယင်းကဲ့သို့ ဘမဲ့သားရတနာ ထွန်းကားစေခြင်းအကြောင်းမှာ ငါအရှင်သည် လူသားတို့အဘို့ မိမိ၏ စွမ်းဆောင်နိုင်ခြင်း သတ္တိကို ထင်ရှားစေရန်၄င်း၊ လူသားတို့အပေါ်ဝယ် မိမိ၏ ကရုဏာတော် ပွားစီမံ့သောငှာ၄င်း ဖြစ်သည်ဟု မိန့်ကြားတော်မူလေသည်။

(ထိုရောကာလ) မရ်ယမ်(သခင်မ)၌ ကိုယ်ဝန်ရှိလာလေသည်၊ ထိုအခါ လူသူလေးပါးနှင့်ကင်းဝေးသော နေရာ၌ တကိုယ်တည်း နေထိုင်လေသည်၊ ထို့နောက် ကမ္မဇလေ လှုပ်ရှားလာသည့်အခါ စွန်ပလွံပင်အောက် သွားရောက်၍ သားတော်နဗီတမန်တော်အီစာ (အလိုင်ဟစ္စလာမ်)ကို မီးရှူးသန့်စင်ဘွားမြင်လေသည်။

**ခရစ်တော်၏တန်ခိုးပြာဋိဟာများ။**

(၁) အလ္လာဟ်အရှင်မြတ်၏ အလိုတော်ဖြင့် ရွှံ့မြေဖြင့်ငှက်သတ္တဝါဖြစ်အောင်ပြုစွမ်းနိုင်ခြင်း၊
(၂) ကုဋ္ဌနူနာရောဂါကို ပျောက်ကင်းစေနိုင်ခြင်း၊
(၃) အမိဝမ်းတွင်းမှစက္ခုအလင်းမရရှိသူ မျက်ကန်းများကိုစက္ခုအလင်းရရှိအောင် ပြုပေးနိုင်ခြင်း၊
(၄) ကွယ်ရာ၌ သိုလှောင်ထားသောအရာများကို ဖော်ပြနိုင်ခြင်း၊
(၅) သေသူများကို ရှင်ပြန်ထစေခြင်း။ ကြည့်၊ ကုရ်အာန် (၃း၄၈)

وَقَالُوا قُلُوبُنَا غُلْفٌ ۚ بَل
لَّعَنَهُمُ اللَّهُ بِكُفْرِهِمْ
فَقَلِيلًا مَّا يُؤْمِنُونَ ﴿٨٨﴾

**၈၈။** တဖန် ယင်း(ယဟူဒီများက) ပြောဆိုကြ ပြန်သည်မှာ အကျွန်ုပ်တို့၏ စိတ်နှလုံးများသည် လုံးဝ ဖုံးအုပ်လျက် ရှိနေပေသည်။[၁] (သို့ဖြစ်လေရာ အစ္စလာမ်သာသနာသည် ကျွန်ုပ်တို့၏ စိတ်နှလုံးတွင်းသို့ မစူးရှ မဝင်နိုင်ချေ)။ စင်စစ်သော်ကား ထိုသို့အလျှင်းမဟုတ်၊ အမှန်မှာ ယင်းသူတို့၏ ငြင်းပယ်ဖီဆန်မှုကြောင့် အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့အား မိမိကရုဏာတော်မှ ကင်းဝေးစေတော်မူသည်။ သို့ဖြစ်၍ ယင်းသူတို့၏ (စိတ်တွင်း၌) ယုံကြည်ခြင်းသဒ္ဓါတရားသည် အနည်းငယ် စိုးစဉ်မျှသာ ရှိလေသည်။

وَلَمَّا جَاءَهُمْ كِتَابٌ مِّنْ
عِندِ اللَّهِ مُصَدِّقٌ لِّمَا
مَعَهُمْ وَكَانُوا مِن قَبْلُ
يَسْتَفْتِحُونَ عَلَى الَّذِينَ
كَفَرُوا فَلَمَّا جَاءَهُم
مَّا عَرَفُوا كَفَرُوا بِهِ ۚ فَلَعْنَةُ

**၈၉။** အခါတစ်ပါး၌ အလ္လာဟ် အရှင်မြတ် အထံတော်မှ ကျမ်းဂန်တစ်စောင် (ကုရ်အာန်)သည် ယင်း(ယဟူဒီ)များထံ ရောက်ရှိလာခဲ့လေသည်၊ ထို(ကုရ်အာန်) ကျမ်းမြတ်သည် ၎င်းတို့ထံရှိနှင့်ပြီးဖြစ်သော (တောင်ရာတ်)ကျမ်းကိုပင် ထောက်ခံလျက်ရှိပေသည်။ စင်စစ်ဆိုသော် ယင်းသူတို့ (ကိုယ်တိုင်)သည်လည်း (ထိုကျမ်းဂန်နှင့် ကျမ်းဂန်ကို ယူဆောင်လာမည့် နဗီတမန်တော်၏ အကြောင်းများကို ထိုကျမ်းဂန် မကျရောက်သေးမီကပင် အရဗ်လူမျိုး) ကာဖိရ်တို့အား ထုတ်ဖော် ပြောဆိုလေ့ရှိခဲ့လေသည်။

---

(၁) "ကျွန်ုပ်တို့၏စိတ်နှလုံးများသည် ဖုံးအုပ်လျက်ရှိနေသည်" ဟုဆိုခြင်း၏ သဘောကား ကျွန်ုပ်တို့ရရှိပြီးဖြစ်သော တရားဓမ္မများသည် ကျွန်ုပ်တို့အဘို့ လုံလောက်ပေရာ၊ အို-မုဟမ္မဒ် အသင့်ထံမှ တရားဓမ္မများကို ဆည်းပူးလေ့လာရန်မလိုတော့ပေ။ ကျွန်ုပ်တို့၏စိတ်နှလုံးသည် ပြည့်ဝပိတ်ဖုံးလျက်ရှိသည်ဟူ၏။ ကြည့်၊ ရာဃိဗ်။

ကုရ်အာန်ကျမ်းမြတ် (၂:၇၄၊ ၅:၁၃၊ ၉:၂၅၊ ၄၁:၅၊ ၄၁:၄၄) တွင် ဖော်ပြထားသည့်အတိုင်း ဤမုက္ခပါဌ်တော်၏သဘောမှာ ထိုအစ္စရာအီလီလူမျိုးတို့၏စိတ်နှလုံးသည် ကျောက်တုံးပမာ တင်းမာခက်ထန်နေသည့်အတွက် တရားဒေသနာများသည် ထိုသူတို့၏နှလုံးတွင်းသို့ ထိုးထွင်း၍ မဝင်နိုင်တော့ချေဟူ၏။

اللّٰهِ عَلَى الْكٰفِرِيْنَ ۝٨٩

ပြီးနောက်တဖန် ထိုသူတို့သည် မိမိတို့ထံ မိမိတို့ သိနှင့်ပြီးဖြစ်သော (ကုရ်အာန်) ကျမ်းမြတ်သည် ရောက်ရှိလာသောအခါ ယင်း(ကုရ်အာန်) ကျမ်းမြတ်ကိုပင် ငြင်းပယ် ကြကုန်သည်။ သို့ဖြစ်လေရာ (ယင်းကဲ့သို့) သွေဖည်ငြင်းပယ်သော သူတို့အဘို့မှာကား အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ ကင်းဝေးခြင်းသာ ရှိပေတော့သည်။

بِئْسَمَا اشْتَرَوْا بِهٖٓ اَنْفُسَهُمْ
اَنْ يَّكْفُرُوْا بِمَآ اَنْزَلَ اللّٰهُ
بَغْيًا اَنْ يُّنَزِّلَ اللّٰهُ مِنْ
فَضْلِهٖ عَلٰى مَنْ يَّشَآءُ
مِنْ عِبَادِهٖ ۚ فَبَآءُوْ
بِغَضَبٍ عَلٰى غَضَبٍ ؕ
وَلِلْكٰفِرِيْنَ عَذَابٌ
مُّهِيْنٌ ۝٩٠

၉၀။ ထိုသူများသည် မိမိတို့ အသက်များဖြင့် လဲလှယ်ဝယ်ယူကြသော အကြင်အရာသည် အလွန်တရာမှုဆိုးရွားလှ၏။ ထိုအရာကား အလ္လာဟ်အရှင်မြတ် ထုတ်ပြန် ချမှတ်တော်မူသော တရားဒေသနာတော်ကို ထိုသူများ၏ ငြင်းပယ်ခြင်း ပင်ဖြစ်၏။ (ယင်းကဲ့သို့ ငြင်းပယ်ခြင်း အကြောင်း မှာလည်း ထိုသူများသည်) အလ္လာဟ် အရှင်မြတ်က မိမိ၏ ကျွန်များအနက် မိမိနှစ်လိုတော် မူသောသူအား မိမိ၏ ကျေးဇူးပြုတော်မူသည်ကို မနာလိုဝန်တို မစ္ဆရိယစိတ် ထားကြခြင်းကြောင့်ပင်တည်း။ သို့အတွက်ကြောင့်ပင် ထိုသူများသည် အမျက်တော် စူးရှခြင်းခံရသည့်အပေါ်၌ ထပ်၍ပင် အမျက်တော် စူးရှခြင်းကိုခံကြရလေပြီ။ ဤမျှမကသေး၊ သွေဖည်ငြင်းပယ်သော သူများအတွက် ဂုဏ်အသရေ ယုတ်ညံ့သိမ်ဖျင်းစေသော အပြစ်ဒဏ်သည်လည်း အသင့်ရှိပေသတည်း။

وَاِذَا قِيْلَ لَهُمْ اٰمِنُوْا بِمَآ
اَنْزَلَ اللّٰهُ قَالُوْا نُؤْمِنُ
بِمَآ اُنْزِلَ عَلَيْنَا

၉၁။ "အလ္လာဟ် အရှင်မြတ် အထံတော်မှ (နဗီတမန်တော် အသီးသီးတို့ထံ) ထုတ်ပြန်ပို့ချတော်မူသော ဓမ္မဒေသနာ ကျမ်းဂန်များကို ယုံကြည်၍ လိုက်နာ ကျင့်မူကြပါကုန်" ဟု ထိုယဟူဒီဘာသာဝင်တို့အား ပြောဆိုကြသည့်အခါ

وَيَكْفُرُوْنَ بِمَا وَرَآءَهٗ وَهُوَ الْحَقُّ مُصَدِّقًا لِّمَا مَعَهُمْ ۗ قُلْ فَلِمَ تَقْتُلُوْنَ اَنْۢبِيَآءَ اللّٰهِ مِنْ قَبْلُ اِنْ كُنْتُمْ مُّؤْمِنِيْنَ ﴿٩١﴾

ထို(ယဟူဒီ ဘာသာဝင်)များက "အကျွန်ုပ်တို့သည် မိမိတို့အပေါ်ဝယ် ထုတ်ပြန် ပို့ချပြီးဖြစ်သော (တောင်ရာတ်) ကျမ်းမြတ်ကိုသာ ယုံကြည် (လိုက်နာကျင့်မှု) ကြပါ၏" ဟု တုံ့ပြန် ဖြေကြားကြလေသည်။ စင်စစ်တမူကား (ထိုသူတို့ ငြင်းပယ်သော) ထိုကျမ်းမြတ်သည် မှန်ကန်သော ကျမ်းမြတ်ဖြစ်သည့်ပြင် ယင်းသူတို့ထံဝယ် ထုတ်ပြန်ပို့ချပြီး ဖြစ်သော (တောင်ရာတ်ကျမ်း) ကိုလည်း ထောက်ခံအတည်ပြုလျက်ရှိ၏။ (မည်သို့ပင်ဖြစ်စေ၊ အို-နဗီတမန်တော်) အသင်သည် ယင်းသူတို့ကို "ဟယ်-အချင်းတို့၊ အကယ်၍သာ အသင်တို့သည် (တောင်ရာတ်ကျမ်းတော်ကို) ယုံကြည်လိုက်နာ ကျင့်မှုကြသူများသာ ဖြစ်ခဲ့ကြပါလျှင် ရှေးအထက်ကျော် ကာလက (အသင်တို့အား ထိုတောင်ရာတ် ကျမ်းမြတ်နှင့် လျော်ညီစွာ လိုက်နာကျင့်မှုကြရန် သွန်သင်ဆုံးမ သြဝါဒပေးကြကုန်သော) အလ္လာဟ်အရှင်မြတ်၏ နဗီတမန်တော်များကို အဘယ့်ကြောင့် သတ်ဖြတ်ကြပါသနည်း" ဟု စုံစမ်းမေးမြန်းပါလေ။

وَلَقَدْ جَآءَكُمْ مُّوْسٰى بِالْبَيِّنٰتِ ثُمَّ اتَّخَذْتُمُ

၉၂။ ထိုတွင်မျှ မကသေးချေ၊ အသင်တို့ထံသို့ နဗီတမန်တော် မူစာ(အလိုင်ဟစ္စလာမ်) သည် ထင်ရှားလှစွာသော သက်သေခံလက္ခဏာ တန်ခိုး *ပြာဋိဟာများနှင့်တကွ* [၁] ကြွလာချေပြီ။

---

၁ ကုရ်အာန်ကျမ်းမြတ် (၁၇း၁၀၁၊ ၂၇း၁၂)တွင် အလ္လာဟ်အရှင်မြတ်က နဗီတမန်တော် မူစာ (အလိုင်ဟစ္စလာမ်)အား တန်ခိုးပြာဋိဟာ ၉ ပါး ချီးမြှင့်တော်မူသည်ဟု အရေအတွက်နှင့်တကွ အတိအကျ ဆိုထား၏။ သက်ဆိုင်ရာ မုက္ခပါဌ်တော်တွင် အကျယ်ရေးသားဖော်ပြပါအံ့။

الْعِجْلَ مِنْ بَعْدِهٖ وَاَنْتُمْ
ظٰلِمُوْنَ ﴿٩٢﴾

ထို့နောက်သော်မှပင် အသင်တို့သည် ထို(နဗီတမန်တော်)မူစာ(အလိုင်ဟစ္စလာမ်တူရ်တောင်ပေါ်သို့ခေတ္တခဏကြွမြန်းနေခိုက်၊ ယင်းနဗီတမန်တော်၏) နောက်ကွယ်ရာ၌၊ နွားငယ်ကို (မိမိတို့ကိုးကွယ်ရာအရှင် ဟု မှတ်ယူ) ကိုးကွယ်ခဲ့ကြသည်။ စင်စစ်သော်ကား အသင်တို့သည် (မိမိတို့ကိုယ်ကို မိမိတို့ပင် အမြဲ) ညှဉ်းပန်းနှိပ်စက်ကလူ ပြုလေ့ရှိကြသူများသာတည်း။

وَاِذْ اَخَذْنَا مِيْثَاقَكُمْ
وَرَفَعْنَا فَوْقَكُمُ الطُّوْرَ ؕ
خُذُوْا مَاۤ اٰتَيْنٰكُمْ بِقُوَّةٍ
وَّاسْمَعُوْا ؕ قَالُوْا سَمِعْنَا
وَعَصَيْنَا ٭ وَاُشْرِبُوْا فِىْ
قُلُوْبِهِمُ الْعِجْلَ
بِكُفْرِهِمْ ؕ قُلْ بِئْسَمَا
يَاْمُرُكُمْ بِهٖۤ اِيْمَانُكُمْ

၉၃။ ထိုမှတပါးတုံ (အို-အစ္စရာအီလီ မျိုးနွယ်အပေါင်းတို့၊ အသင်တို့သည် ပြန်လည်အောက်မေ့သတိရကြကုန်လော့) အခါတပါး၌ ငါအရှင်သည် အသင်တို့ထက်ဝယ် "တူရ်" မည်သောတောင်ကို ပင့်မြှောက်ကာ အသင်တို့ထံသို့ ငါအရှင်ထုတ်ပြန်ပို့ချပေးသနားတော်မူသော (တောင်ရာတ်ကျမ်းမြတ် ကို) ခိုင်မြဲစွာ လက်ဆုပ်လက်ကိုင်ပြု၍ (ထိုကျမ်းမြတ်လာဒေသနာတော်များကို စိတ်ရောကိုယ်ပါ) နာယူကြ ရန် အသင်တို့ထံမှ ပဋိညာဉ်ဝန်ခံချက်ကို ယူခဲ့ပြီးဖြစ် သည်။ (ထိုကဲ့သို့ ကတိဝန်ခံချက်ကို ယူတော်မူသည့် အခါ) ထိုသူတို့က ကျွန်တော်မျိုးတို့ *ကြားကြပါပြီ၊* သို့သော် *မနာခံကြပါ* [၁] ဟုဆိုကြလေသည်။ (ထိုကဲ့သို့ သွေဖည်ငြင်းဆိုခြင်း၏) အကြောင်းမှာ ယင်းသူတို့၏ နှလုံးသည်းပွတ်တွင်းသို့ နွားငယ်(၏မေတ္တာ)သည် သက်ဝင်ကိန်းအောင်းလျက် ရှိနေခြင်းကြောင့်တည်း။

---

(၁) ယဟူဒီဘာသာဝင်တို့၏ အတိတ်ရာဇဝင်ကို ပြန်လည်သုံးသပ် ဆင်ခြင်သည်ရှိသော် ယင်းသူတို့သည် ရာဇဝင်တလျှောက်လုံးတွင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို သွေဖည်ခဲ့ကြ၏။ မောက်မာပလွှားဝါကြွားခဲ့ကြ၏။ ရိုင်းပြယုတ်မာသော အကျင့်အကြံမျိုးကို ပြုကျင့်ခဲ့ကြ၏။ ဖရုသဝါစာ ရန့်ရင်းကြမ်းတမ်းသော စကားများကို ပြောဆိုလေ့ရှိခဲ့ကြ၏။

အထက်ပါစကားရပ်များကို ပြောဆိုဝံ့သော ယဟူဒီဘာသာဝင်များအဘို့မှာ "ကျွန်ုပ်တို့ ကြားပါ၏၊ သို့သော် မနာခံပါ" ဟု ဆိုရန် ခဲယဉ်းလှမည်မဟုတ်ပေ။ ➤➤

إِنْ كُنْتُمْ مُّؤْمِنِيْنَ ﴿٩٣﴾

(အို-နဗီတမန်တော် အသင်သည် ထိုသူတို့အား) “ဟယ်-အချင်းတို့၊ အကယ်၍သာ အသင်တို့သည် ယုံကြည်ခြင်းသဒ္ဓါတရား ထားရှိကြသူများ ဖြစ်ခဲ့ကြပါလျှင် အသင်တို့၏ယုံကြည်မှုက အသင်တို့အား ညွှန်ကြားပြသ တိုက်တွန်းသည့် အကြောင်းအရာ အမှုကိစ္စများသည် အလွန်ပင် ယုတ်ညံ့သိမ်ဖျင်းလှပေစွတကား” ဟု ပြောဆိုပါလေ။

قُلْ إِنْ كَانَتْ لَكُمُ الدَّارُ الْاٰخِرَةُ عِنْدَ اللّٰهِ خَالِصَةً مِّنْ دُوْنِ النَّاسِ فَتَمَنَّوُا الْمَوْتَ إِنْ كُنْتُمْ صٰدِقِيْنَ ﴿٩٤﴾

၉၄။ (အို-နဗီတမန်တော်) အသင်သည် (ထို ယဟူဒီဘာသာဝင်တို့အား ဤသို့ချေပပြောဆိုပါလေ၊ “ဟယ်-အချင်းတို့) အကယ်၍ အလ္လာဟ် အရှင်မြတ် အထံတော်၌ရှိသော နောင်တမလွန်ဘဝ(၏ အမတသုခချမ်းသာများ)သည် အခြား လူခပ်သိမ်းတို့နှင့် အလျင်း မသက်ဆိုင်ဘဲ အသင်တို့အတွက်သာလျှင် ဖြစ်သည်ဟု (ယုံကြည်ပါမူ) အသင်တို့သည် (ဆောလျင်စွာ) မရဏသေခြင်းကို လိုလားတောင်းတကြလေကုန်။” (ဟယ်-အချင်းတို့) “အသင်တို့သည် ဟုတ်မှန်ရာကို ထုတ်ဖော်ပြောဆိုသူများ ဖြစ်ကြပါလျှင် မရဏသေခြင်းကို စင်စစ် တောင်းတကြရမည်၊ (သို့ရာတွင် အသင်တို့၌ ဤကဲ့သို့ တောင်းတသူဟူ၍ မတွေ့ရပါတကား)”။

---

➢➢ **ယဟူဒီနှင့်မွတ်စ်လင်မ်၏ ခြားနားချက်**

ယဟူဒီဘာသာဝင်တို့သည် အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ပို့ချတော်မူသော တရားဒေသနာတော်များနှင့်စပ်လျဉ်း၍ “ကျွန်တော်မျိုးတို့ ကြားပါ၏၊ သို့သော် မနာခံပါ” ဟု ပြောဆိုကြ၏။ မွတ်စ်လင်မ်များကမူ “ကျွန်တော်မျိုးတို့ ကြားပါ၏၊ အမိန့်တော် နာခံပါ၏” ဟု ပြောဆိုကြကုန်၏။ ဤကား ယဟူဒီနှင့် မွတ်စ်လင်မ်၏ ခြားနားချက်ပင်တည်း။

وَلَنْ يَّتَمَنَّوْهُ اَبَدًاۢ بِمَا قَدَّمَتْ اَيْدِيْهِمْ ؕ وَاللّٰهُ عَلِيْمٌۢ بِالظّٰلِمِيْنَ ﴿٩٥﴾

၉၅။ သို့ရာတွင် ထိုသူတို့သည် မိမိတို့ကိုယ်တိုင် ကျင့်မှု၍ (ငါအရှင်ထံသို့) တင်ကြို၍ ပို့ထား ခဲ့လေပြီးဖြစ်သော (အကုသိုလ်ဒုစရိုက်များ၏ ပြစ်ဒဏ် များကို စိုးရိမ်ကြောင့်ကြသော)ကြောင့် မည်သည့် အခါမျှ မရဏာသေခြင်းကို အလျင်းလိုလားတောင်းတ ကြလိမ့်မည်မဟုတ်။ စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည် ကျူးလွန်သူများ(၏ အကြောင်းများ) ကို အကြွင်းမဲ့ သိတော်မူသောအရှင် ဖြစ်တော်မူပေ သတည်း။ ၁

وَلَتَجِدَنَّهُمْ اَحْرَصَ النَّاسِ عَلٰى حَيٰوةٍ ۚ وَمِنَ الَّذِيْنَ اَشْرَكُوْا ۚ يَوَدُّ اَحَدُهُمْ لَوْ يُعَمَّرُ اَلْفَ سَنَةٍ ۚ وَمَا هُوَ بِمُزَحْزِحِهٖ مِنَ الْعَذَابِ اَنْ يُّعَمَّرَ ؕ وَاللّٰهُ بَصِيْرٌۢ بِمَا يَعْمَلُوْنَ ﴿٩٦﴾

၉၆။ စင်စစ်မှာမူ (ထိုယဟူဒီဘာသာဝင်များသည် သေခြင်းတရားကို အလျင်းမနှစ်သက် မလိုလား မတောင်းတကြရုံမျှမက ဤဘဝ၌ပင် ကာလကြာမြင့် စွာ) အသက်ထင်ရှား တည်ရှိနေခြင်းကို အခြား လူခပ်သိမ်းတို့ထက် ပိုမို၍ပင် တပ်မက်မောသော သူများ (ဖြစ်သည်ကို) အသင် (မုဟမ္မဒ် ဆွဲလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) သည် မုချ တွေ့ရှိရပေမည်။ အခြားအခြားသော သူများကို မဆိုထားဘိဦး၊ ယင်း သူတို့သည် တစ်ဆူတည်းသော အလ္လာဟ်အရှင် မြတ်နှင့် တွဲဘက်ယှဉ်ပြိုင်၍ အခြားအရာများကိုပါ ကိုးကွယ်ကြကုန်သော သူများထက်လည်း (ဤဘဝ၌ အသက်ရှည်ခြင်းကို ပိုမိုနှစ်သက် လောဘရမ္မက် ရှိကြကုန်သည်ကို အသင် တွေ့ရှိပေမည်)၊ ယင်း (ယဟူဒီ ဘာသာဝင်)တို့တွင် လူတိုင်းလူတိုင်းပင် နှစ်ပေါင်း တစ်ထောင်မျှသော အသက်ရှည်ခြင်းကို ကြိုက်နှစ်သက်ကြလေသည်။

① ဤအကြောင်းကိုပင် ကုရ်အာန်ကျမ်းမြတ် (၆၂ း ၆-၁)တွင် အကျယ်တဝင့် ဖော်ပြထားသည်။

သို့သော် (ဤမျှလောက် သက်တမ်းရှည်စွာ နေထိုင်ခဲ့ရသည့်တိုင်အောင်) ထိုကဲ့သို့ အသက်ရှည်ခြင်းသည် ယင်းသူတို့ကို ငရဲအပြစ်ဒဏ်များမှ ကယ်ဆယ်နိုင်လိမ့်မည် မဟုတ်ချေ၊ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် ထိုသူများ ကျင့်မူကြကုန်သော အပြုအမူများကို အကြွင်းမဲ့ ခွဲခြားသိမြင်တော်မူသောအရှင်တည်း။ [၁]

قُلْ مَنْ كَانَ عَدُوًّا لِّجِبْرِيلَ
فَإِنَّهُۥ نَزَّلَهُۥ عَلَىٰ قَلْبِكَ
بِإِذْنِ ٱللَّهِ مُصَدِّقًا لِّمَا
بَيْنَ يَدَيْهِ وَهُدًى
وَبُشْرَىٰ لِلْمُؤْمِنِينَ ﴿٩٧﴾

၉၇။ (အို-နဗီတမန်တော်) အသင်သည် (ယဟူဒီဘာသာဝင်တို့အား) ဤသို့ပြောဆိုပါလေ၊ အကြင်မည်သူမဆို အပါးတော် စေတမန် ဂျိဗ်ရီလ် (အလိုင်ဟစ္စလာမ်) ကို ရန်မူအံ့၊ (သို့ရန်မူခြင်းသည် အကြောင်းမဲ့သာလျှင်ဖြစ်အံ့) အဘယ်ကြောင့်ဆိုသော် ယင်း အပါးတော်စေတမန် ဂျိဗ်ရီလ်သည် ထို (ကုရ်အာန်ကျမ်းမြတ်) ကို အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြင့် အသင်၏ စိတ်နှလုံးတွင်းသို့ ယူဆောင်ပို့ချ သူမျှဖြစ်၏။ [အပါးတော် စေတမန် ဂျိဗ်ရီလ် (အလိုင်ဟစ္စလာမ်) ယူဆောင် ပို့ချခဲ့သော] ထိုကျမ်းမြတ်သည် မိမိအလျှင် ထုတ်ပြန်ပို့ချထားသော(ယဟူဒီ ဘာသာဝင်တို့၏ ကျမ်းဂန်နှင့်တကွ) အတိတ်ခေတ် ကျမ်းများကို ထောက်ခံ၏။ ထိုကျမ်းမြတ်သည် တရားဓမ္မလည်းဖြစ်၏။ "မုအ်မင်န်" သက်ဝင်ယုံကြည် သူများအဘို့ မင်္ဂလာသတင်းလည်း မည်၏။

---

(၁) **အပိုဒ် ၁၁ နှင့် ၁၂ ၏ ဆက်စပ်မှု**

ယခုပြီးခဲ့သော အပိုဒ်များတွင် ယဟူဒီဘာသာဝင်တို့၏ မောက်မာခြင်း၊ နဗီတမန်တော်များ၏ ဩဝါဒများကို မလိုက်နာခြင်းအကြောင်း ပါရှိ၏။ လာမည့်အပိုဒ်တွင်မူ ယင်းသူတို့သည် အပါးတော် စေတမန် ဂျိဗ်ရီလ် (အလိုင်ဟစ္စလာမ်)ကိုပါ မနာလိုမုန်းတီးခြင်းအကြောင်းနှင့် ကျမ်းဂန်လာ တရားဒေသနာတော်များကို ပစ်ပယ်၍ စုန်းပယောဂအတတ်များကို လိုက်စားခြင်းအကြောင်းများ ပါရှိ၏။

مَنْ كَانَ عَدُوًّا لِّلّٰهِ وَمَلٰٓئِكَتِهٖ وَرُسُلِهٖ وَجِبْرِيْلَ وَمِيْكٰىلَ فَاِنَّ اللّٰهَ عَدُوٌّ لِّلْكٰفِرِيْنَ ﴿٩٨﴾

**၉၈။** မည်သူမဆို အလ္လာဟ်အရှင်မြတ်ကိုသော်လည်းကောင်း၊ ထိုအရှင်မြတ်၏ အပါးတော်စေတမန်များကိုသော်လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ် တမန်တော်များ ကိုသော်လည်းကောင်း၊ အပါးတော် စေတမန် ဂျိဗ်ရီလ်(အလိုင်ဟစ္စလာမ်) ကိုသော်လည်းကောင်း၊ အပါးတော်စေတမန် မီကာလ် (အလိုင်ဟစ္စလာမ်) ကိုသော်လည်းကောင်း၊ ရန်မူခဲ့ပါမူ အလ္လာဟ်အရှင်မြတ်သည်လည်း (ထိုကဲ့သို့ရန်မူသော) ကာဖစ်ရ် သွေဖည် ငြင်းပယ်သောသူတို့၏ ရန်သူဖြစ်တော်မူ၏။

وَلَقَدْ اَنْزَلْنَآ اِلَيْكَ اٰيٰتٍۭ بَيِّنٰتٍ ۚ وَمَا يَكْفُرُ بِهَآ اِلَّا الْفٰسِقُوْنَ ﴿٩٩﴾

**၉၉။** ၎င်းပြင် (အို-နဗီတမန်တော်) ငါအရှင်သည် အသင်၏ထံသို့ ထင်ရှားသော သက်သေခံ လက္ခဏာများကို ထုတ်ပြန်ပို့ချတော် မူခဲ့လေပြီ၊ ထိုသက်သေခံ လက္ခဏာများကို အမိန့်တော်မနာခံသော သူယုတ်မာများမှအပ မည်သူ တစ်စုံတစ်ယောက်မျှ ထွက်ပြူငြင်းပယ်မည် မဟုတ်ချေ။

اَوَكُلَّمَا عٰهَدُوْا عَهْدًا نَّبَذَهٗ فَرِيْقٌ مِّنْهُمْ ۭ بَلْ اَكْثَرُهُمْ لَا يُؤْمِنُوْنَ ﴿١٠٠﴾

**၁၀၀။** ထိုယဟူဒီ ဘာသာဝင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့် ကတိဝန်ခံချက် တစ်စုံတစ်ခု ထားရှိပြီးတိုင်း ထိုသူတို့အနက်မှ လူတစ်စုသည် (အစဉ်အမြဲ) ထိုဝန်ခံချက်ကို ပယ်ဖျက်လေ့ရှိကြသည်မဟုတ်ပါလော၊ အမှန်သော်ကား၊ ယင်းသူတို့တွင် မြောက်မြားစွာသော သူတို့သည် (မိမိတို့ထံသို့ ထုတ်ပြန် ပို့ချထားသော ကျမ်းဂန်များကိုပင်) မယုံကြည်ကြချေ။

وَلَمَّا جَآءَهُمْ رَسُوْلٌ مِّنْ عِنْدِ اللّٰهِ مُصَدِّقٌ لِّمَا

**၁၀၁။** တဖန် (ထိုကဲ့သို့ပင်) ယင်း(ယဟူဒီ ဘာသာဝင်) များထံသို့ အလ္လာဟ် အရှင်မြတ် အထံတော်မှ ထိုသူတို့ထံ၌ ရှိနှင့်ပြီး ဖြစ်သော

مَعَهُمْ نَبَذَ فَرِيقٌ مِّنَ
الَّذِينَ أُوتُوا الْكِتَابَ كِتَابَ
اللَّهِ وَرَاءَ ظُهُورِهِمْ كَأَنَّهُمْ
لَا يَعْلَمُونَ ﴿١٠١﴾

(တောင်ရာတ်) ကျမ်းမြတ်ကို ထောက်ခံသော နဗီတမန်တော်(မုဟမ္မဒ် ဆွာလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်) ကြွရောက်လာသည့်အခါ ထိုကျမ်းရလူမျိုးတို့အနက် မှပင် လူတစ်စုသည် မသိကြသကဲ့သို့ အလ္လာဟ် အရှင်မြတ်၏ ကျမ်းမြတ် (တောင်ရာတ်) ကိုပင် မိမိတို့၏ ကျောနောက်သို့ ပစ်ပယ်ထားကြလေသည်။

وَاتَّبَعُوا مَا تَتْلُو الشَّيَاطِينُ
عَلَىٰ مُلْكِ سُلَيْمَانَ ۖ وَمَا
كَفَرَ سُلَيْمَانُ وَلَٰكِنَّ
الشَّيَاطِينَ كَفَرُوا يُعَلِّمُونَ
النَّاسَ السِّحْرَ وَمَا أُنزِلَ
عَلَى الْمَلَكَيْنِ بِبَابِلَ هَارُوتَ
وَمَارُوتَ ۚ وَمَا يُعَلِّمَانِ مِنْ أَحَدٍ
حَتَّىٰ يَقُولَا إِنَّمَا نَحْنُ
فِتْنَةٌ فَلَا تَكْفُرْ ۖ فَيَتَعَلَّمُونَ
مِنْهُمَا مَا يُفَرِّقُونَ بِهِ بَيْنَ
الْمَرْءِ وَزَوْجِهِ ۚ وَمَا هُم
بِضَارِّينَ بِهِ مِنْ أَحَدٍ

၁၀၂။ ထိုမျှမက (အသိအလိမ္မာ ကင်းမဲ့ကြကုန်သော ယင်းယဟူဒီဘာသာဝင်တို့သည် အလ္လာဟ်အရှင်မြတ်၏ ဓမ္မဒေသနာတော်ကို မလိုက်နာကြဘဲလျက်) နဗီတမန်တော် စုလိုင်မာန်(အ) စိုးမိုးအုပ်ချုပ်မင်းပြုလုပ်နေသောအခါဝယ် ရှိုင်တွာန်များရွတ်ဘတ်သရဇ္ဈာယ်ကြလေသော စုန်းပယောဂအတတ်ကိုသာ ဆည်းပူးလိုက်စားကြကုန်၏။[၁] [ဤတွင်မျှမကသေး၊ အချို့သော လူဗာလတို့သည် နဗီတမန်တော် စုလိုင်မာန်(အ)ကိုပင် မိစ္ဆာဒိဋ္ဌိအယူကိုလိုက်စားသည် ဟုစွပ်စွဲကြသည်။] စင်စစ်တမူကား နဗီတမန်တော် စုလိုင်မာန်(အ)သည် မည်သည့်အခါမျှ မိစ္ဆာဒိဋ္ဌိအယူကို လိုက်စားခဲ့သည် မဟုတ်ချေ၊ သို့ရာတွင် ထိုရှိုင်တွာန်တို့သာလျှင် မိစ္ဆာဒိဋ္ဌိအယူကို လိုက်စားကြခဲ့၏။ ယင်းရှိုင်တွာန်တို့သည်ပင်လျှင် စုန်းပယောဂ အတတ်ကို လူတို့အား သင်ကြားပြသပေးကြလေသည်။ ထို့ပြင်တဝ (ယင်းယဟူဒီ ဘာသာဝင်တို့သည်) ဗာဗိလုံမြို့ရှိ အပါးတော်စေတမန် နှစ်ပါးဖြစ်သော ဟာရူတ်နှင့် မာရူတ်တို့အပေါ်ဝယ် ကျရောက်သည့် စုန်းပယောဂ အတတ်ကိုလည်း လိုက်နာဆည်းပူးကြလေသည်။

---

(၁) ယဟူဒီဘာသာဝင်တို့သည် (မုချဧကန် နာခံရမည်ဖြစ်သော) အလ္လာဟ်အရှင်မြတ်၏ကျမ်းဂန်ကို စွန့်လွှတ်၍ နဗီတမန်တော် စုလိုင်မာန်(အလိုင်ဟစ္စလာမ်)လက်ထက်တော်တွင် ရှိုင်တွာန်များ ရွတ်ဘတ်သော စုန်းပယောဂနှင့် မျက်လှည့်အတတ်ပညာများကိုသာ လေ့လာလိုက်စားကြကုန်သတည်း။

إِلَّا بِإِذْنِ اللَّهِ ۚ وَيَتَعَلَّمُونَ
مَا يَضُرُّهُمْ وَلَا يَنفَعُهُمْ ۚ
وَلَقَدْ عَلِمُوا لَمَنِ اشْتَرَاهُ
مَا لَهُ فِي الْآخِرَةِ مِنْ
خَلَاقٍ ۚ وَلَبِئْسَ
مَا شَرَوْا بِهِ أَنفُسَهُمْ ۚ
لَوْ كَانُوا يَعْلَمُونَ ﴿١٠٢﴾

ထိုအပါးတော်စေတမန် နှစ်ပါးတို့သည် (မိမိတို့ထံကျရောက်သော စုန်းပယောဂ အတတ်များကို) မည်သူတစ်ဦးကိုမျှ သင်ကြားပေးလေ့မရှိ။ (သင်ကြားပို့ချပေးပါရန် တောင်းဆို လျှောက်ထားလာသူတို့ကို အို-အချင်းတို့) အကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်၏ အထံတော်မှ (အသင်တို့အတွက်) အစမ်းအသပ်တစ်ရပ်အဖြစ် နှင့်သာလျှင် ဆင်းသက်ရောက်ရှိလာကြသည်။ အသင်တို့သည် (ဤစုန်းပယောဂအတတ်ကို ဆည်းပူးလေ့လာပြီး) မိစ္ဆာဒိဋ္ဌိ အယူကို မလိုက်စားကြကုန်လင့် (ဟု သွန်သင်ဆုံးမ၍ မြစ်တားကြလေသည်)။ သို့မြစ်တားငြားသော်လည်း ယင်းသူတို့သည် ထိုအပါးတော်စေတမန်နှစ်ပါးတို့ထံမှ ဇနီးမောင်နှံနှစ်ဦးကို ပြတ်စဲစေသောအတတ်ကို နည်းခံသင်ယူကြကုန်၏။ စင်စစ်ဆိုသော် ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်၏ အလိုတော် မရှိဘဲလျက်နှင့် မည်သူ တစ်ဦးတစ်ယောက်ကိုမျှ ထိုအတတ်ဖြင့် ဘေးအန္တရာယ်မပြုနိုင်ကြချေ၊ အမှန်သော်ကား ယင်းသူတို့သည် မိမိတို့အား အကျိုးကျေးဇူးမဖြစ်ထွန်းစေဘဲ အကျိုးယုတ်နစ်နာစေတတ်သော စုန်းပယောဂအတတ်ကိုသာ နည်းခံသင်ယူကြလေသည်။ စင်စစ်အားဖြင့် (ထိုကဲ့သို့)အလ္လာဟ်အရှင်မြတ်၏ ကျမ်းမြတ်ဒေသနာတော်ကို ပစ်ပယ်၍ စုန်းပယောဂအတတ်ကို လေ့လာဆည်းပူးသူများအဖို့အရာ နောင်တမလွန်ဘဝတွင် ကုသိုလ်အကျိုး ဝေစုဝေပုံ မရရှိနိုင်ကြောင်းကိုလည်း ယင်းယဟူဒီဘာသာဝင်တို့သည် အသိပင်ဖြစ်ကြ သည်။ ထိုယဟူဒီများသည် မိမိတို့အသက်နှင့်ပင် လဲလှယ်၍ လေ့လာလိုက်စားဆည်းပူးထားသော ထို စုန်းပယောဂအတတ်များသည် ဆိုးယုတ်သိမ်ဖျင်း လှစွာတကား၊

ထိုသူတို့သည် (မိမိတို့၏ဘဝ ဖြစ်အင်ကို) သိကြပါလျှင် ကောင်းလေစွ။

وَلَوْ أَنَّهُمْ آمَنُوا وَاتَّقَوْا لَمَثُوبَةٌ مِّنْ عِندِ اللَّهِ خَيْرٌ ۖ لَّوْ كَانُوا يَعْلَمُونَ ﴿١٠٣﴾

**၁၀၃။** (ယဟူဒီ ဘာသာဝင်တို့၏ အဖြစ်သည် ဝမ်းနည်း ကြေကွဲစရာပင်၊) အကြောင်းမှာအကယ်၍သာ ထိုသူတို့သည် (အလ္လာဟ် အရှင်မြတ်၏ တရားဒေသနာတော်များကို စိတ်စေတနာဖြူစင်စွာဖြင့်) ယုံကြည်မြတ်နိုး၍ ပြစ်မှုဒုစရိုက်များမှ ဝေးစွာကြဉ်ရှောင်ပါမူ ယင်းသူတို့သည် (အလွန်ချစ်ကြင်သနားတော်မူသော) အလ္လာဟ်အရှင်မြတ် အထံတော်မှ ထူးကဲမြင့်မြတ်လှစွာသော ဆုလာဘ်ပဏ္ဏာများကို ဧကန်မုချ ရကြကုန်ရာသည်။ ယင်းသူတို့သည် (ဤမျှပင်) သိရှိနားလည်ကြပါမူ တော်လေစွတကား။ ၁

يَا أَيُّهَا الَّذِينَ آمَنُوا لَا تَقُولُوا رَاعِنَا وَقُولُوا انظُرْنَا وَاسْمَعُوا ۗ وَلِلْكَافِرِينَ

**၁၀၄။** အို-ယုံကြည်ခြင်း သဒ္ဓါတရားထားရှိကြကုန်သော ("မုအ်မင်အန်") အပေါင်းတို့၊ အသင်တို့သည် [နဗီတမန်တော် မုဟမ္မဒ်(ဆွ)အထံဝယ် မည်သည့်အကြောင်းအရာကိုမဆို လျှောက်ထားသောအခါ၌] "ရာအိနာ" ဟူသောပုဒ်ကို မသုံးစွဲကြကုန်လင့်၊ ၂ "ဥန်ဇုရ်နာ" ဟူသောပုဒ်ကိုသာ သုံးစွဲကြကုန်။

---

① **အပိုဒ် ၁၂ နှင့် ၁၃ ၏ဆက်စပ်မှု**

အပိုဒ် ၁၂ တွင် ယဟူဒီဘာသာဝင်တို့သည် အပါးတော် စေတမန်များကိုပင်လျှင် မနာလိုမုန်းတီးခြင်းအကြောင်း၊ ကျမ်းဂန်လာ တရားဒေသနာတော်များကို ပစ်ပယ်၍ စုန်းပယောဂအတတ်များကို လေ့လာလိုက်စား မိုက်မှားခြင်းအကြောင်းများပါရှိသည်။

ယခုလာမည့် အပိုဒ်တွင် ယင်းယဟူဒီဘာသာဝင်များနှင့်တကွ ပေါင်းဘော် ပေါင်းဘက်ဖြစ်ကြသော အခြားမိစ္ဆာဒိဋ္ဌိတို့သည် မိမိတို့ကိုယ်တိုင် ကိုယ်ကျင့်တရား ပျက်ပြားကြသည်သာမက သီလဝန္တသမ္မာဒိဋ္ဌိအယူရှိသူများကိုပင် မိစ္ဆာဒိဋ္ဌိဘဝသို့ တဖန်ပြန်လည်ပို့ဆောင်ရန် ဆန္ဒပြင်းပြစွာထားရှိပြီး စည်းကမ်းမဲ့ ပရမ်းပတာ ထင်မိထင်ရာ ပြောဆို၍ နဗီတမန်တော်ကို ပြောင်လှောင် ပြက်ရယ်ပြုကြသည့် အကြောင်းအရာများ ပါရှိလေသည်။

② သာဝကကြီးများသည် နဗီတမန်တော်မုဟမ္မဒ်(ဆွ)ထံဝယ်အကြောင်းအရာတစ်ခုခုကို လျှောက်တင်လိုသော အခါကျွန်တော်မျိုးတို့ကိုထောက်ထားတော်မူပါဟု အနက်အဓိပ္ပါယ်ပေးသော "ရာအိနာ" ပုဒ်ကို သုံးလေ့ရှိကြသည် ➤➤

عَذَابٌ اَلِيْمٌ ﴿١٠٤﴾

ဝင်းပြင် အသင်တို့သည် [နဗီတမန်တော် မုဟမ္မဒ်(ဆွ)၏ ဒေသနာတော်များကို မြေဝယ်မကျ] နာခံကြကုန်။ အကြောင်းသော်ကား (ထိုတရားဒေသနာတော်များကို) သွေဖည်ငြင်းဆန် မနာခံကြကုန်သော မိစ္ဆာဒိဋ္ဌိတို့ အတွက်မှာ ပြင်းပြနာကျင်ဘွယ်ဖြစ်သော အပြစ်ဒဏ်များသည် အသင့်ရှိနှင့်ချေပြီ။

مَا يَوَدُّ الَّذِيْنَ كَفَرُوْا مِنْ اَهْلِ الْكِتٰبِ وَلَا الْمُشْرِكِيْنَ اَنْ يُّنَزَّلَ عَلَيْكُمْ مِّنْ خَيْرٍ مِّنْ رَّبِّكُمْ ۗ وَاللّٰهُ يَخْتَصُّ بِرَحْمَتِهٖ مَنْ يَّشَآءُ ۗ وَاللّٰهُ ذُو الْفَضْلِ

**၁၀၅။** အထက်ကျော်ကာလများက *ကျမ်းရခဲ့ပြီးဖြစ်သောလူတို့* [၁] အနက်မှသော်လည်းကောင်း၊ တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်နှင့် တွဲဘက် ယှဉ်တွဲ၍ အခြားအရာများကိုပါ ကိုးကွယ်ကြသော သူများအနက်မှ သော်လည်းကောင်း၊ (အလ္လာဟ်အရှင်မြတ်ကို) မယုံမကြည် *သွေဖည်ငြင်းဆန်သောသူတို့သည်* [၂] အသင်တို့အား ပြုစုပျိုးထောင် မွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်၏ အထံတော်မှ အသင်တို့အထံဝယ် မည်သည့်ကောင်းကျိုးချမ်းသာ (ကြီးပွားရာ ကြီးပွားကြောင်းနှင့် အမိန့်ဖျာဒိတ်တော်များ) ပို့ချပေးသနားတော်မူခြင်းကို (လုံးဝ) မနှစ်သက်ကြချေ။

---

➤➤ သို့သော် ယဟူဒီဘာသာဝင်တို့သည် ယင်းပုဒ်ကိုပင် အနည်းငယ်နူတ်လျှာကို ပြောင်းလွဲလျက် နဗီတမန်တော်၏ ဂုဏ်ဒြဗ်ကို ထိပါးစေ၍ ဆဲဆိုခြင်း အနက်သဘောပါရှိသောပုဒ် ဖြစ်လေအောင်ဖန်တီး၍ ဆိုလေ့ရှိကြသည်၊ ထို့ကြောင့် အလ္လာဟ်အရှင်မြတ်က ထိုပုဒ်ကို မသုံးစွဲကြနှင့်ဟု တားမြစ်တော်မူခြင်းဖြစ်သည်။

(၁) (اَهْلِ الْكِتٰبِ) ၏ မူရင်းအနက်မှာ ကျမ်းရသူများဟု ဖြစ်သည်။ သို့ရာတွင် ဤပါဒတွင် ယင်းပုဒ်ကိုပင် ယဟူဒီဘာသာဝင်များနှင့် ခရစ်ယာန်ဘာသာဝင်များအတွက် သီးသန့်၍ သုံးထားသည်။

(၂) ရှေးအထက်ကျော်ကာရီက ပွင့်တော်မူပြီးသော နဗီတမန်တော်များကို အလ္လာဟ်အရှင်မြတ်က နဗီတမန်တော် အစ္စဟာက်(အ)၏မျိုးနွယ်မှ ပွင့်စေတော်မူခဲ့၏။ နဗီတမန်တော်မုဟမ္မဒ်(ဆွ)ကိုမူ နဗီတမန်တော် အစ္စမာအီလ်(အ)၏ မျိုးနွယ်မှ ပွင့်စေတော်မူရာ ယဟူဒီဘာသာဝင်တို့သည် ဤအကြောင်းကို အလျင်းမနှစ်သက်ကြချေ။

ယဟူဒီဘာသာဝင်တို့၏ လိုလားချက်မှာ ပွင့်လေသမျှသော နဗီတမန်တော်များသည် အစ္စရာအီလီမျိုးနွယ်ထဲမှသာ ဖြစ်စေလိုသည်။ အခြားမျိုးနွယ်မှ ပွင့်တော်မူခြင်းကို မလိုလားကြချေ။

ထိုသူတို့၏ လိုလားချက်နှင့် ဆန့်ကျင်၍ နဗီတမန်တော် မုဟမ္မဒ်(ဆွ)သည် အစ္စမာအီလီ ➤➤

الْعَظِيمِ ﴿١٠٥﴾

သို့ရာတွင် (ယင်းသူတို့၏ မနာလိုဝန်တိုကြသောမစ္ဆရိယစိတ်စေတနာ ထားခြင်းသည် အချည်းနှီးပင်တည်း) အဘယ်ကြောင့်ဟူမူ အလ္လာဟ်အရှင်မြတ်သည် မိမိနှစ်လိုတော်မူသောသူများကို (သာလျှင်) မိမိကရုဏာတော်မြတ် (သက်ရောက်စေတော်မူရန်) သီးသန့်ခြားနားရွေးကောက်တော်မူလေသည်။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် မြင့်မြတ်သောကျေးဇူးတော်အပေါင်းနှင့် ပြည့်စုံတော်မူသောအရှင်တည်း။

مَا نَنسَخْ مِنْ آيَةٍ أَوْ نُنسِهَا نَأْتِ بِخَيْرٍ مِّنْهَا أَوْ مِثْلِهَا ۗ أَلَمْ تَعْلَمْ أَنَّ اللَّهَ عَلَىٰ كُلِّ شَيْءٍ قَدِيرٌ ﴿١٠٦﴾

**၁၀၆**။ အကယ်၍ ငါအရှင်သည် အကြင်အာယတ်တော်(၏ အမိန့်တော်)ကို ရုပ်စဲတော်မူအံ့၊ သို့တည်းမဟုတ် ထိုအာယတ်တော်ကိုပင် မေ့ပျောက်စေတော်မူအံ့၊ ငါအရှင်သည် ထိုအာယတ်တော်ထက် ပိုမိုသင့်မြတ်သော အာယတ်တော်ကိုသော် လည်းကောင်း၊ ထိုအာယတ်တော်နှင့် အလားတူ အာယတ်တော်ကိုသော်လည်းကောင်း၊ ထုတ်ပြန် ပို့ချတော်မူသည်။ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် ချင့်ချိန်မှန်းဆ၍ စွမ်းဆောင်နိုင်တော် မူသော အနန္တတန်ခိုးတော်ရှင်ဖြစ်သည်ကို အသင်သည်မသိပါသလော။

أَلَمْ تَعْلَمْ أَنَّ اللَّهَ لَهُ مُلْكُ السَّمَاوَاتِ وَالْأَرْضِ ۗ وَمَا لَكُم مِّن دُونِ اللَّهِ مِن وَلِيٍّ وَلَا نَصِيرٍ ﴿١٠٧﴾

**၁၀၇**။ (ထိုမှတပါးတုံ၊ အို-နဗီတမန်တော်) ကောင်းကင်ဘုံများနှင့်ပထဝီမြေကို (ငါ)အလ္လာဟ်အရှင်မြတ်သာလျှင် စိုးပိုင်တော်မူကြောင်း အသင်မသိလေသလော၊ ထို့ပြင်တဝ (အို-လူသားတို့) အသင်တို့အဘို့အရာအလ္လာဟ်အရှင်မြတ်မှတပါးအခြားမည်သူတစ်ဦးတစ်ယောက်မျှ ကြည့်ရှုစောင့်ရှောက်မည့်သူဟူ၍၎င်း၊ ကူညီ မ,စမည့်သူဟူ၍၎င်း၊ မရှိချေ။

➤➤ မျိုးနွယ်မှ ပွင့်သည့်ပြင် ကုရ်အာန်ကျမ်းကလည်း တဖန် အရဗီဘာသာဖြင့် ကျရောက်လာသည်ကို အလွန်ပင် မနှစ်သက်၍ နဗီတမန်တော် မုဟမ္မဒ်(ဆွ)နှင့် ကုရ်အာန်ကျမ်းမြတ်ကို ငြင်းပယ် ပုတ်ခတ်ကြလေသည်။

أَمْ تُرِيدُونَ أَن تَسْأَلُوا
رَسُولَكُمْ كَمَا سُئِلَ مُوسَىٰ
مِن قَبْلُ ۗ وَمَن يَتَبَدَّلِ
الْكُفْرَ بِالْإِيمَانِ فَقَدْ ضَلَّ
سَوَاءَ السَّبِيلِ ﴿١٠٨﴾

**၁၀၈။** (အို–အစ္စရာအီလ်၏ မျိုးနွယ်ဝံသအပေါင်းတို့) ရှေးအထက်ကျော်ကာလ၌ (အသင်တို့၏ ဘိုးဘေးများက) နဗီတမန်တော်မူစာ(အလိုင်ဟစ္စလာမ်)အား (မလျော်ကန်သော အချက်များကို) တောင်းဆိုမေးမြန်းကြသကဲ့သို့ အသင်တို့ကလည်း မိမိတို့ခေတ်၌ပွင့်တော်မူသော နဗီတမန်တော် (မုဟမ္မဒ် ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) အား ထိုကဲ့သို့ပင် တောင်းဆိုမေးမြန်းရန် အလိုဆန္ဒရှိကြပါသလော။ မည်သူမဆို ယုံကြည်ခြင်းသဒ္ဓါတရားကို စွန့်ပယ်၍ မိစ္ဆာအယူကို လဲလှယ်(လက်ခံနာ)ယူပါမူ၊ ထိုသူသည် မချွတ်ဧကန် ဖြောင့်မတ်မှန်ကန်သောလမ်းမှ တိမ်းပါးလွဲချော်သွားချေပြီ။

وَدَّ كَثِيرٌ مِّنْ أَهْلِ الْكِتَابِ
لَوْ يَرُدُّونَكُم مِّن بَعْدِ
إِيمَانِكُمْ كُفَّارًا حَسَدًا مِّنْ
عِندِ أَنفُسِهِم مِّن بَعْدِ
مَا تَبَيَّنَ لَهُمُ الْحَقُّ ۖ
فَاعْفُوا وَاصْفَحُوا حَتَّىٰ
يَأْتِيَ اللَّهُ بِأَمْرِهِ ۗ إِنَّ اللَّهَ
عَلَىٰ كُلِّ شَيْءٍ قَدِيرٌ ﴿١٠٩﴾

**၁၀၉။** စင်စစ်မှာမူကား ကျမ်းဂန်ရရှိကြကုန်သော (ယဟူဒီဘာသာဝင်များ)အနက်မှ မြောက်မြားစွာသော သူတို့သည်၊ ထင်ရှားခဲ့ပြီးအမှန်သည် ယင်းသူတို့အဘို့ နောက်သော်မှပင် မိမိတို့စိတ်တွင်း၌ ထားရှိကြကုန်သော မနာလိုဝန်တိုငြူစူခြင်းသဘောများကြောင့် အသင်တို့အား သမ္မာဒိဋ္ဌိဘဝမှ တဖန် မိစ္ဆာဒိဋ္ဌိဘဝသို့ ပြန်လည် ပို့ဆောင်လိုကြသည်။ သို့ဖြစ်ငြားသော်လည်း၊ အလ္လာဟ်အရှင်မြတ်အထံတော်မှ အမိန့်တော် ကျရောက်လာသည့်တိုင်အောင် အသင်တို့သည်၊ ခန္တီတရားကို အမြဲထား၍ ယင်းသူတို့အားလျစ်လျူရှုကာ ခွင့်လွှတ်နေကြကုန်။ ဧကန်မုချ အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့အပေါ်ဝယ် စွမ်းဆောင်နိုင်တော်မူသော အနန္တတန်ခိုးတော်ရှင်တည်း။

وَأَقِيمُوا الصَّلَاةَ وَآتُوا

**၁၁၀။** ထိုမှတပါး အသင်တို့သည် "ဆွလာတ်" ဝတ်ပြုခြင်းကို အမြဲတစေ ဆောက်တည်ကြလေကုန်၊

الزَّكٰوةَ ۗ وَمَا تُقَدِّمُوْا
لِاَنْفُسِكُمْ مِّنْ خَيْرٍ تَجِدُوْهُ
عِنْدَ اللّٰهِ ۗ اِنَّ اللّٰهَ بِمَا
تَعْمَلُوْنَ بَصِيْرٌ ﴿١١٠﴾

ၛင်းပြင် အသင်တို့သည် "ဇကာတ်" တရားဝင်ဒါန ကြေးများကို ပေးဆောင်ကြလေကုန်။ ထို့ပြင်တဝ အသင်တို့သည် မည်သည့်ကောင်းမှုကုသိုလ်ကိုမဆို မိမိတို့အတို့အရာ ရှေ့သို့ တင်ကြိုပို့ထားနှင့်ကြပါမူ အလ္လာဟ်အရှင်မြတ်အထံတော်မှ ယင်းကောင်းမှု(၏ ကုသိုလ် အကျိုး)ကို အသင်တို့ရရှိကြအံ့၊ မုချအမှန် အလ္လာဟ်အရှင်မြတ်သည် အသင်တို့ပြုမူကြ ကုန်သော အရာခပ်သိမ်းတို့ကို အကြွင်းမရှိ သိမြင်တော်မူသော အရှင် ဖြစ်တော်မူ၏။

وَقَالُوْا لَنْ يَّدْخُلَ الْجَنَّةَ
اِلَّا مَنْ كَانَ هُوْدًا
اَوْ نَصٰرٰى ۗ تِلْكَ اَمَانِيُّهُمْ ۗ
قُلْ هَاتُوْا بُرْهَانَكُمْ اِنْ كُنْتُمْ
صٰدِقِيْنَ ﴿١١١﴾

**၁၁၁။** ထို့ပြင်တဝ ယင်းသူတို့က ပြောဆိုကြသည်မှာ၊ "ဂျန္နတ်" အမတသုခဘုံတွင်းသို့ ယဟူဒီဘာသာဝင် သို့မဟုတ် ခရစ်ယာန်ဘာသာဝင်တို့မှအပ (အခြား) မည်သူတစ်ဦးတစ်ယောက်မျှ မည်သည့်အခါမျှ ဝင် ရောက်နိုင်မည်မဟုတ်ချေ။ ထိုပြောဆိုချက်များသည် ကား ယင်းသူတို့၏ (စိတ်ကူးအလျောက် အချည်းနှီး သော) တပ်မက်မောခြင်းမျှသာဖြစ်သည်။ အို-နဗီ တမန်တော်မုဟမ္မဒ်(ဆွ) အသင်သည် ယင်းသူတို့အား ဟယ်-အချင်းတို့၊ အကယ်စင်စစ် အသင်တို့သည်၊ (ဤအကြောင်းများနှင့် စပ်လျဉ်း၍) ဟုတ်မှန်ရာကို ပြောဆိုကြသူများသာဖြစ်ကြလျှင် မိမိတို့၏ အခိုင်လုံ ဆုံးသော သက်သေခံသာဓကေ အထောက်အထားများ ဆောင်ယူ(တင်ပြ) ကြကုန်လော့ဟု ပြောဆိုပါလေ။

بَلٰى ۚ مَنْ اَسْلَمَ وَجْهَهٗ لِلّٰهِ
وَهُوَ مُحْسِنٌ فَلَهٗٓ اَجْرُهٗ عِنْدَ
رَبِّهٖ ۪ وَلَا خَوْفٌ عَلَيْهِمْ

**၁၁၂။** ထို(ယဟူဒီဘာသာဝင်များနှင့် ခရစ်ယာန်တို့ ပြောဆို ကြသောစကားသည်၊ အဘယ်မှာလျှင် ဟုတ်မှန်ပါအံ့နည်း) စင်စစ်သော်ကား မည်သူမဆို မိမိကိုယ်ကို အလ္လာဟ်အရှင်မြတ်အား လုံးဝ အပ်နှင်းပြီး (ခယရိုကျိုး ရှိခိုး၍) ကောင်းမှု ကုသိုလ်များကို

وَلَا هُمْ يَحْزَنُونَ ﴿١١٢﴾

ပွားများခဲ့ပါလျှင် ထိုကဲ့သို့သော သူတို့သည် မိမိတို့၏ အရှင့်အထံတော်၌ အကျိုးကျေးဇူးများကို မုချရရှိ၍ စိုးရိမ်ကြောင့်ကြ ပူဆွေးကြရမည်လည်း မဟုတ်ချေ။

وَقَالَتِ الْيَهُودُ لَيْسَتِ النَّصَارَىٰ عَلَىٰ شَيْءٍ وَقَالَتِ النَّصَارَىٰ لَيْسَتِ الْيَهُودُ عَلَىٰ شَيْءٍ وَهُمْ يَتْلُونَ الْكِتَابَ كَذَٰلِكَ قَالَ الَّذِينَ لَا يَعْلَمُونَ مِثْلَ قَوْلِهِمْ فَاللَّهُ يَحْكُمُ بَيْنَهُمْ يَوْمَ الْقِيَامَةِ فِيمَا كَانُوا فِيهِ يَخْتَلِفُونَ ﴿١١٣﴾

**၁၁၃။** ယဟူဒီတို့က ခရစ်ယာန်တို့သည် မည်သည့် အခြေခံတရားပေါ်၌မျှ တည်ရှိနေကြသည်မဟုတ် ဟူ၍၎င်း၊ ထိုနည်းတူစွာ ခရစ်ယာန်တို့ကလည်း ယဟူဒီဘာသာဝင်တို့သည် မည်သည့် အခြေခံတရား ပေါ်၌မျှ တည်ရှိနေကြသည်မဟုတ်ဟူ၍၎င်း၊ (တစ်စု ကိုတစ်စု ပုတ်ခတ်) ပြောဆိုကြကုန်၏။ [၁] စင်စစ် တမူကား ယင်းသူတို့နှစ်စုစလုံးသည် (အလ္လာဟ် အရှင်မြတ်အထံတော်မှ ထုတ်ပြန်ပို့ချသော တဆူ တည်းသော) ကျမ်းဂန်ကိုပင် ရွတ်ဘတ်သရဇ္ဈာယ် လျက် ရှိကြကုန်၏။ ဤကဲ့သို့ ယဟူဒီဘာသာဝင်များ နှင့် ခရစ်ယာန်ဘာသာဝင်များ ပြောဆိုကြသကဲ့သို့ ပင် သာသနာရေး၌ တတ်သိ လိမ္မာခြင်းမရှိသော ပညာမဲ့သူ တို့ကလည်း (အစ္စလာမ် သာသနာသည် အခြေအမြစ်မရှိသော သာသနာဖြစ်သည်ဟူ၍) ပြောဆိုကြလေသည်။ သို့ဖြစ်ရာ အလ္လာဟ် အရှင် မြတ်သည် ရှင်ပြန်ထမည့်နေ့၌ ယင်းသူတို့ ငြင်းခုံ လျက်ရှိသော ပြဿနာရပ် အကြောင်းခြင်းရာများကို (မျက်ဝါးထင်ထင် ပေါ်လွင်ထင်ရှားစွာ) စီရင် ဆုံးဖြတ် အမိန့်ချမှတ်တော်မူအံ့။

---

(၁) ယဟူဒီများနှင့် ခရစ်ယာန်တို့သည် ကျမ်းရသောသူများဖြစ်ကြ၏။ ယဟူဒီတို့ထံ၌ "တောင်ရာတ်" ခေါ် ပဋိညာဉ် တရားတော်ဟောင်းရှိ၏။ ခရစ်ယာန်တို့ထံ၌ အင်န်ဂျီလ် ခေါ် ပဋိညာဉ် တရားတော်သစ်ရှိ၏။ ဖော်ပြပါကျမ်းနှစ်စောင်သည် တစ်စောင်ကိုတစ်စောင် ထောက်ခံလျက်ရှိ၏။ သို့ဖြစ်သော်လည်း ယဟူဒီနှင့် ခရစ်ယာန်တို့သည် အယူသည်း၍ တစ်စုကိုတစ်စု ပုတ်ခတ်ပြောဆိုကြ လေသည်။

وَمَنْ أَظْلَمُ مِمَّنْ مَنَعَ
مَسَاجِدَ اللَّهِ أَنْ يُذْكَرَ فِيهَا
اسْمُهُ وَسَعَىٰ فِي خَرَابِهَا ۚ
أُولَٰئِكَ مَا كَانَ لَهُمْ أَنْ
يَدْخُلُوهَا إِلَّا خَائِفِينَ ۚ
لَهُمْ فِي الدُّنْيَا خِزْيٌ وَلَهُمْ
فِي الْآخِرَةِ عَذَابٌ عَظِيمٌ ﴿١١٤﴾

**၁၁၄။** ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ်၏ ဗလီကျောင်းတော်များ၌ ထိုအရှင်မြတ်၏ နာမံတော်ကို ထုတ်ဖော်တသ စီးဖြန်းသရဇ္ဈာယ်ခြင်း၊ ဂုဏ်တော်ချီးမွမ်းခြင်းကို တားဆီးပိတ်ပင် ကန့်ကွက်ကြရုံမျှမကထိုဗလီ ကျောင်းတော်များ၏ ပျက်စီးရာပျက်စီးကြောင်းကိုလည်း ကြိုးပမ်းအားထုတ် ကြကုန်သောသူတို့ထက် သာလွန်ဆိုးယုတ်သော သူသည် အဘယ်မှာလျှင် ရှိနိုင်ပါဦးအံ့နည်း၊ (ဗလီကျောင်းတော်များကို ဖျက်ဆီးဘို့ရာဝေးစွ၊) ထိုသူတို့ကိုယ်တိုင်ပင်လျှင် အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့ရှိသေသောစိတ်ဖြင့် ထိုဗလီကျောင်းတော် များတွင်းသို့ ဝင်ရောက်ရာ၏။ ထိုကဲ့သို့ ဖျက်ဆီးရန် ကြိုးပမ်းခဲ့ကြသောသူတို့၏ အဘို့ရာကား ဤဘဝ၌ပင် ဂုဏ်အသရေ ဆုတ်ယုတ်ခြင်း ဖြစ်သည့်ပြင် နောင် တမလွန်ဘဝ၌လည်း ထိုသူတို့အဘို့ ကြီးလေးသော အပြစ်ဒဏ် (အဆင်သင့်စီမံပြီး) ရှိလေသတည်း။ [၁]

وَلِلَّهِ الْمَشْرِقُ وَالْمَغْرِبُ ۚ
فَأَيْنَمَا تُوَلُّوا فَثَمَّ وَجْهُ
اللَّهِ ۚ إِنَّ اللَّهَ وَاسِعٌ

**၁၁၅။** စင်စစ်ဆိုသော် အရှေ့နှင့်အနောက် (အစရှိသော အရပ် ၈ မျက်နှာမျှမက ရှိရှိသမျှသော စကြာဝဠာများကိုပင်) အလ္လာဟ် အရှင်မြတ်က (ဖန်ဆင်းတော်မူလေသည်ဖြစ်ရာ) ထိုအရှင်သည်သာလျှင် စိုးပိုင်တော်မူသောအရှင်တည်း။

---

(၁) __ပါဒ ၂ ႏ ၁၁၄ နှင့် ၂ ႏ ၁၁၅၏ ဆက်စပ်မှု__

ယခုပြီးစီးခဲ့သော ပါဒ ၁၁၄ တွင် မိစ္ဆာဒိဋ္ဌိတို့သည် မွတ်စ်လင်မ်တို့အား ဗလီဝတ်ကျောင်းများ၌ ဝတ်ပြုခြင်းကိစ္စတို့မှ ပိတ်ပင်တားဆီး၍ အစ္စလာမ် သာသနာကို ချေမှုန်းဖျက်ဆီးရန် အမျိုးမျိုး ကြံစည်ကြိုးပမ်း ခဲ့ကြောင်းကို ဖော်ပြခဲ့လေပြီ၊ သို့သော် ပတ္တမြားမှန် နွံမှာနစ်လည်းမညစ် ဆိုသည်နှင့်အညီ အစ္စလာမ်သာသနာသည် မည်သည့်အခါမျှ တိမ်ကောမည်မဟုတ်၊ အစ္စလာမ်သာသနာသည် အမိုက်မှောင်များကိုခွင်း၍ ကမ္ဘာအဝှန်းကို အလင်းပေးမည့်အကြောင်း အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာ့အရပ်ရပ်၌ မွတ်စ်လင်မ်များအား ကူညီမှိုင်းမတော်မူမည့်အကြောင်းများကို ပါဒ ၁၁၅တွင် ဖွင့်ဟမိန့်ဆိုထားတော်မူသည်။

عَلِيمٌ ﴿١١٥﴾

သို့ဖြစ်လေရာ အသင်တို့သည် (ထိုအရှင်မြတ်ကို ခ၀ပ်ကိုးကွယ်ရာ၌) မည်သည့်ဘက်သို့မဆို မျက်နှာ ပြုကြပါမူ ထို(မျက်နှာပြုရာ)ဘက်၌ပင် အလ္လာဟ် အရှင်မြတ်၏ မျက်နှာတော်သည် (အသင်တို့ ရှေ့တွင်) ရှိနေတော်မူသည်(ဟု မှတ်ပါလေ၊) (အကြောင်းဟူမူ) စကန်မုချ အလ္လာဟ်အရှင်မြတ်သည် (အနန္တ တန်ခိုး တော်ရှင် ဖြစ်တော်မူသည့်အတိုင်း) ခပ်သိမ်းကုန်(သော အရပ်ဒိသာ)တို့ကို လွှမ်းခြုံတော်မူသောအရှင်၊ အလုံးစုံကို အကြွင်းမဲ့ သိတော် မူသောအရှင် ဖြစ်တော်မူသော ကြောင့်တည်း။

وَقَالُوا اتَّخَذَ اللّٰهُ وَلَدًا ۙ سُبْحٰنَهٗ ؕ بَلْ لَّهٗ مَا فِى السَّمٰوٰتِ وَالْاَرْضِ ؕ كُلٌّ لَّهٗ قٰنِتُوْنَ ﴿١١٦﴾

**၁၁၆။** ထို(ခရစ်ယာန်)တို့သည် အလ္လာဟ်အရှင် မြတ်၌သားတော်ရှိသည်ဟူ၍ (မဟုတ်မလျား စွပ်စွဲ) ပြောဆိုကြကုန်၏။ (ဤစကားသည် မှားလေစွ၊ အကြောင်းမှာ) အလ္လာဟ်အရှင်မြတ်သည် (ဃရာ ၀ါသ အိမ်ထောင်မှုကိစ္စတို့မှ) လုံးလုံးကင်းစင် တော်မူသော အရှင်တည်း။ စင်စစ်တမူကား မိုးကောင်းကင်နှင့် ပထဝီမြေပြင်၌ ရှိရှိသမျှသော အရာခပ်သိမ်းတို့ကို အလ္လာဟ်အရှင်မြတ်သာလျှင် ပိုင်ဆိုင်တော်မူ၏။ ထိုထိုသော အရာခပ်သိမ်းတို့သည်လည်း ထိုအရှင်မြတ် ၏ အမိန့်တော်ကို နာခံလျက် ရှိကြကုန်၏။

بَدِيْعُ السَّمٰوٰتِ وَالْاَرْضِ ؕ وَاِذَا قَضٰٓى اَمْرًا فَاِنَّمَا يَقُوْلُ لَهٗ كُنْ فَيَكُوْنُ ﴿١١٧﴾

**၁၁၇။** (ထိုအလ္လာဟ် အရှင်မြတ်သည်) မိုးကောင်း ကင်များနှင့်တကွ ပထဝီမြေပြင်ကို စတင်ပြုပြင် ဖန်ဆင်းတော်မူသော အရှင်ဖြစ်တော်မူသည်၊ (ထိုမျှ မကသေး) မည်သည့်အခါမဆို ထိုအရှင်မြတ်သည် တစ်စုံတစ်ခုသော အမှုကိစ္စကို ဆုံးဖြတ်စီရင် ပြဋ္ဌာန်း တော်မူလိုပါလျှင် (နတ္ထိတ မရှိရာဘ၀မှ အတ္ထိတ ရှိရာဘ၀သို့) ဖြစ်စေ(ဟူသောအမိန့်တော်) ပေးရုံမျှဖြင့်

ထိုအမှုကိစ္စ အဝဝတို့သည် (ပြကတေ့ အလိုရှိတော်မူသည့်အတိုင်း တခဏချင်းတွင်ပင်) ဖြစ်ပေါ်လာလေသတည်း။

وَقَالَ الَّذِيْنَ لَا يَعْلَمُوْنَ لَوْلَا يُكَلِّمُنَا اللّٰهُ اَوْ تَاْتِيْنَآ اٰيَةٌ ۭ كَذٰلِكَ قَالَ الَّذِيْنَ مِنْ قَبْلِهِمْ مِّثْلَ قَوْلِهِمْ ۭ تَشَابَهَتْ قُلُوْبُهُمْ ۭ قَدْ بَيَّنَّا الْاٰيٰتِ لِقَوْمٍ يُّوْقِنُوْنَ ﴿١١٨﴾

**၁၁၈**။ အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့ကို တရားတော်အတိုင်း လိုက်နာကျင့်စေလိုပါလျှင်) အဘယ်ကြောင့် ထိုအရှင်မြတ်သည် ကျွန်ုပ်တို့နှင့် တိုက်ရိုက်စကားမပြောကြားပါသနည်း၊ သို့တည်းမဟုတ် ကျွန်ုပ်တို့ထံသို့ (ထင်ရှားပေါ်လွင်သော) သက်သေလက္ခဏာ တစ်စုံတစ်ခုကို မပို့ချပါသနည်းဟု အသိတရားကင်းမဲ့သောသူများက ပြောဆိုကြကုန်၏။ ထိုနည်းတူစွာ ယင်းသူတို့၏အထက်အဆက်ဆက်က ဖြစ်ခဲ့ဘူးသော ရှေးသူမိုက်တို့ကလည်း ဤသူများပြောဆိုကြသကဲ့သို့ပင် ပြောဆိုခဲ့ကြလေပြီ၊ ယင်းသူတို့အားလုံး၏ စိတ်နှလုံးများသည် (အသိအလိမ္မာကင်းမဲ့ရာ၌၎င်း၊ မောက်မာပလွှားရာ၌၎င်း) ထပ်တူထပ်မျှပင် ဖြစ်ချေသည်။ စေန်ဆတ်ဆတ် ငါအရှင်မြတ်သည် ယုံကြည်လိုကြကုန်သောသူတို့အဘို့အရာ (အသင်၏ တမန်တော်ဖြစ်ကြောင်းနှင့်စပ်လျဉ်း၍) မြောက်မြားစွာသော ထောက်ခံချက် သက်သေလက္ခဏာရပ် [၁] တို့ကို ရှင်းလင်းထင်ရှားစွာ ဖော်ပြထားတော်မူပြီဖြစ်လေသည်။

---

(၁) နောက်ဆုံးပွင့်သော နဗီတမန်တော် မုဟမ္မဒ်(ဆွ)သည် နဗီတမန်တော်တစ်ပါး ဟုတ်မှန်ကြောင်းနှင့် စပ်လျဉ်း၍ အကြီးဆုံးသော တန်ခိုးပြာဋိဟာသက်သေလက္ခဏာသည် ကုရ်အာန်ကျမ်းမြတ်ပင် ဖြစ်လေသည်။

ဖော်ပြပါအချက်နှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်း ( ၂၉:၅၁ )တွင် အောက်ပါအတိုင်းမိန့်ဆိုထားသည်။

ထိုသူတို့ရှေ့မှောက်တွင် ရွတ်ဖတ်သရဇ္ဈာယ်ရန် အလို့ငှာ၊ ငါအရှင်သည် အသင့်ထံသို့ ထုတ်ပြန်ပို့ချတော် မူလိုက်သော (ကုရ်အာန်)ကျမ်းဂန်သည် ထိုသူများအဘို့ မလုံလောက်ပါသလော။

ဤအကြောင်းကိုပင် (ကုရ်အာန် ၆:၃၃-၃၅၊ ၂၉:၄၇-၅၁) တွင် ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။

إِنَّآ أَرۡسَلۡنَٰكَ بِٱلۡحَقِّ بَشِيرٗا وَنَذِيرٗاۖ وَلَا تُسۡـَٔلُ عَنۡ أَصۡحَٰبِ ٱلۡجَحِيمِ ١١٩

၁၁၉။ (အလ္လာဟ်အရှင်မြတ်အတို့မှာ ထိုအသိတရားကင်းမဲ့သူများနှင့် တိုက်ရိုက် စကားပြောရန်လည်းမလို၊ ယင်းသူတို့ထံ အထူးတလည် သက်သေလက္ခဏာများ ပို့ချရန်လည်းအကြောင်းမရှိ၊ အဘယ်ကြောင့်နည်းဟူမူ) ဧကန်အမှန် ငါအရှင်မြတ်သည် အသင် (မုဟမ္မဒ်)အား (ခပ်သိမ်းကုန်သော သတ္တဝါတို့ကို တရားရေအေးအမြိုက်ဆေး တိုက်ကျွေးရန်) *သဒ္ဓမ္မပရမတ္ထတရားတော်* [၁] နှင့် (ယုံကြည်လိုက်နာသူတို့ကို အကျိုးဆုလာဘ်များ ရရှိမည့်အကြောင်း) ဝမ်းမြောက် ဘွယ်ရာသော မင်္ဂလာသတင်း ပြောကြားသူအဖြစ်၎င်း၊ (မယုံမကြည်သွေဖည်ငြင်းဆန်သူတို့အား ပြစ်ဒဏ်များ ခံစားရမည့်အကြောင်းကို) သတိပေး နှိုးဆော်သူအဖြစ်၎င်း၊ စေလွှတ်တော်မူလေသတည်း။ သို့သော် (မိမိတို့ကံကြမ္မာအားဖြင့် ငရဲလားကြကုန်သော) ငရဲသားများနှင့်ပတ်သက်၍ အသင်သည် (မည်သို့မျှပင် အပြစ်တင်) စောကြောစစ်ဆေး မေးမြန်ခြင်းကိုခံရမည် မဟုတ်ပေ။ [၂]

---

(၁) (အလိုကား) အို - မုဟမ္မဒ်၊ ငါအရှင်သည် အသင့်အား အစ္စလာမ်သာသနာတော်ဖြင့် ခြီးမြှင့်၍ စေလွှတ်တော်မူခဲ့သည်၊ ငါအရှင်သည် အစ္စလာမ်သာသနာအပြင် မည်သည့်သာသနာကိုမျှ လက်ခံတော်မူမည်မဟုတ်၊ အစ္စလာမ်သာသနာသည်သာလျှင် မှန်ကန်သော သာသနာတော်တည်း။ (အီဗ်နုဂျရီရ်)

(၂) အသင်သည် ငရဲလားမည့်သူများနှင့်စပ်လျဉ်း၍ စောကြောခြင်းခံရမည် မဟုတ်ဟု ဆိုထားခြင်းအကြောင်းမှာ ပွင့်လေသမျှသော နဗီတမန်တော်များသည် အလ္လာဟ်အရှင်မြတ်အထံတော်မှ ထုတ်ပြန်ပို့ချသော တရားဒေသနာတော်များကို သက်ဆိုင်ရာအမျိုးသားများထံသို့ စ, လယ်, ဆုံး မှန်ကန်စွာ ဆင့်ဆိုပြောကြားသော ပုဂ္ဂိုလ်မွန် ပုဂ္ဂိုလ်မြတ်များသာ ဖြစ်ကြပေရာ တရားဒေသနာတော်များကို ဟောကြားခြင်းသည်သာလျှင် ယင်းနဗီတမန်တော်များ၏ တာဝန်ဖြစ်ချေသည်၊ သို့ဟောကြားသည့်အဆုံး၌ ကြားနာသူတို့သည် တရားရသည်ဖြစ်စေ၊ မရသည်ဖြစ်စေ ထိုနဗီတမန်တော်များ၏ တာဝန်မဟုတ်တော့ချေ။ ကြည့် - ကုရ်အာန် (၅ း၉၂၊ ၉၉၊ ၁၃ : ၄၀၊ ၂၄ : ၅၄၊ ၂၉ : ၁၈၊ ၃၆ : ၁၇၊ ၄၂ : ၄၈)။

ကုရ်အာန် ကျမ်းတော်မြတ် (၂၁ : ၁၀၇) တွင် နဗီ တမန်တော် မုဟမ္မဒ် (ဆွ) ကို ➤➤

وَلَنْ تَرْضٰى عَنْكَ الْيَهُوْدُ وَلَا
النَّصٰرٰى حَتّٰى تَتَّبِعَ مِلَّتَهُمْ ؕ
قُلْ اِنَّ هُدَى اللّٰهِ هُوَ الْهُدٰى ؕ
وَلَئِنِ اتَّبَعْتَ اَهْوَآءَهُمْ بَعْدَ
الَّذِىْ جَآءَكَ مِنَ الْعِلْمِ ۙ مَا لَكَ
مِنَ اللّٰهِ مِنْ وَّلِىٍّ وَّلَا نَصِيْرٍ ﴿١٢٠﴾

၁၂၀။ အမှန်သော်ကား (အို-ချစ်တမန်တော် အသင်သည် နဗီတမန်တော်ဖြစ်ကြောင်းနှင့် စပ်လျဉ်း၍ မည်မျှလောက်ပင် ထောက်ခံချက် သက်သေလက္ခဏာတော်များကို ဟောပြငြားပါလည်း အချည်းနှီးအကျိုးမဲ့သာဖြစ်အံ့) ယဟူဒီနှင့် ခရစ်ယာန်တို့သည် ၎င်းတို့၏ ဘာသာအယူဝါဒကို အသင်မလိုက်နာသမျှ ကာလပတ်လုံး အသင့်အား မည်သည့်အခါမျှ နှစ်သိမ့်ကျေနပ်ကြမည်မဟုတ်ပေ၊ (သို့ဖြစ်လေရာ အသင်သည် ယင်းသူတို့အား) အလ္လာဟ်အရှင်မြတ် ညွှန်ကြားပြသတော်မူသော တရားလမ်းသည်သာလျှင် မှချကေန် ဖြောင့်မတ်မှန်ကန်သော တရားလမ်းပင်တည်းဟု (ပွင့်လင်းစွာတုံ့ပြန်) ပြောဆိုပါလေ။ ထိုမှတပါးတုံ (အလ္လာဟ်အရှင်မြတ်အထံတော်မှ) အသင်၏ထံသို့ (ယုံကြည်စိတ်ချဘွယ်ရာသော) အသိတရား ရောက်ရှိလာပြီးသည့်နောက် အကယ်၍သာ အသင်သည် ယင်းသူတို့၏ ယုတ်ညံ့သိမ်ဖျင်းသောအလိုဆန္ဒများကို လိုက်နာခဲ့အံ့၊ (ထိုသို့သောအခါဝယ်) မည်သူတစ်ဦးတစ်ယောက်မျှ အလ္လာဟ်အရှင်မြတ် (ပေးတော်မူမည့်အပြစ်ဒဏ်များ)မှ အသင့်အား စောင့်ရှောက်သူ မိတ်သဟာယ၍ငင်း၊ ကူညီအားပေးစောင်မမည့်သူဟူ၍ငင်း၊ မရှိတော့ပြီ။

▶▶ (رحمة للعٰلمين) ဟူသောဘွဲ့တော် ချီးမြှင့်ထားသည်နှင့်အညီ နဗီတမန်တော်သည် ခပ်သိမ်းကုန်သော သတ္တဝါတို့၏ နှစ်ဘဝ သုခချမ်းသာကို အထူးတလည် လိုလားတောင့်တတော်မူ၏၊ သို့လိုလားတောင့်တတော်မူပါလျက် နောက်လိုက်တပည့်တို့၏ မောက်မာမှု၊ သွေဖည်မှု၊ မခံညားမှု၊ အကြောင်းမဲ့ တန်ခိုးပြဌ်ိုဟာတောင်းဆိုမှု များကို တွေ့မြင်သောအခါ နဗီတမန်တော်သည် ပူဆွေးမိ၏။ ယူကျုံးမရ ဖြစ်မိ၏။ ကြည့်၊ ကုရ်အာန် (၁၅ : ၉၇၊ ၁၆ : ၁၂၇၊ ၂၇ : ၇၀)။ ထိုသို့ ယူကျုံးမရ ပူပင်သောက ဖြစ်လျက်ရှိသော နဗီတမန်တော်အား စိတ်နှစ်သိမ့်စေရန်အလို့ငှာ အလ္လာဟ်အရှင်မြတ်က ယခု ကျွန်ုပ်တို့ လေ့လာနေသောပါဒကို ထုတ်ပြန်ပို့ချတော်မူလေသတည်း။

ٱلَّذِينَ ءَاتَيۡنَٰهُمُ ٱلۡكِتَٰبَ يَتۡلُونَهُۥ
حَقَّ تِلَاوَتِهِۦٓ أُوْلَٰٓئِكَ يُؤۡمِنُونَ
بِهِۦۗ وَمَن يَكۡفُرۡ بِهِۦ فَأُوْلَٰٓئِكَ هُمُ
ٱلۡخَٰسِرُونَ ١٢١

၁၂၁။ အကြင်သူတို့အား ငါအရှင်မြတ်သည် ဒေသနာတော်ကျမ်းမြတ်ကို ပေးသနားတော်မူခဲ့၏။ အကယ်၍ ထိုသူတို့သည် ယင်းဒေသနာတော် ကျမ်းမြတ်ကို ထိုက်သင့်သောနည်းဖြင့် စိတ်ရင်းစေတနာ ဖြူစင်စွာဖြင့် ရွတ်ဘတ်ကြ၍ လိုက်နာ ကျင့်ကြံကြပါမူ ထိုသူတို့သည်သာလျှင် သဒ္ဓမ္မတရားတည်းဟူသော ကျမ်းတော်မြတ်ကို အမှန်ယုံကြည်သူများ ဖြစ်ကြအံ့၊ အကြင်မည်သူမဆို ယင်းကျမ်းတော်မြတ်ကို ငြင်းပယ်ကြပါမူ ထိုသူတို့ သည်သာလျှင် ပျက်စီးဆုံးရှုံးခြင်းသို့ ကျရောက်သောသူများပင် ဖြစ်လတ္တံ့။

يَٰبَنِيٓ إِسۡرَٰٓءِيلَ ٱذۡكُرُواْ نِعۡمَتِيَ
ٱلَّتِيٓ أَنۡعَمۡتُ عَلَيۡكُمۡ وَأَنِّي
فَضَّلۡتُكُمۡ عَلَى ٱلۡعَٰلَمِينَ ١٢٢

၁၂၂။ အို-အစ္စရာအီလ်၏ မျိုးနွယ်ဝံသအပေါင်းတို့၊ အသင်တို့အား ငါအရှင်မြတ်ပေးသနားတော်မူသော သုခချမ်းသာ ဂုဏ်ကျေးဇူးတော်များကို (အမြဲတစေ) အောက်မေ့ သတိရကြကုန်လော့။ ထိုနည်းတူစွာ ငါအရှင်မြတ်သည် အသင်တို့အား (အထူးထူးသော) ဂုဏ်ထူးဝိသေသများဖြင့် စကြာဝဠာအပေါင်းတို့ ထက်ထူးကဲစွာ ချီးမြှင့်တော်မူခဲ့လေသည်ကိုလည်း ပြန်လည်သတိရကြလေကုန်။

وَٱتَّقُواْ يَوۡمٗا لَّا تَجۡزِي نَفۡسٌ عَن
نَّفۡسٖ شَيۡـٔٗا وَلَا يُقۡبَلُ مِنۡهَا
عَدۡلٞ وَلَا تَنفَعُهَا شَفَٰعَةٞ
وَلَا هُمۡ يُنصَرُونَ ١٢٣

၁၂၃။ ထိုမှတပါးတုံ (အို-အစ္စရာအီလ်၏ မျိုးနွယ် အပေါင်းတို့) အသင်တို့သည် (သေပြီးသည့်နောက် ပြန်လည်ရှင်ပြန်ထကြရမည့်)နေ့ကို အထူးတလည် ကြောက်ရွံ့ကြကုန်၊ အကြောင်းမူကား ထိုနေ့တွင် မည်သူတစ်ဦးတစ်ယောက်မျှ အခြားတစ်ဦးတစ်ယောက် အဘို့ စိုးစဉ်းမျှကိုပင် စွမ်းဆောင်နိုင်မည် မဟုတ်၊ မည်သူ တစ်ဦးတစ်ယောက် ထံမှလည်း အစား လဲလှယ်ပေးခြင်းကို (အလ္လာဟ် အရှင်မြတ်သည်) သဘောတူလက်ခံမည်မဟုတ်၊

မည်သူတစ်စုံတစ်ယောက်၏ အသနားခံတောင်းပန် ပေးခြင်းသည်လည်း အခြား တစ်စုံတစ်ယောက်သော သူအဘို့ အကျိုးဖြစ်ထွန်း စေမည်လည်းမဟုတ်၊ ထို့ပြင်တဝ ယင်းသူတို့သည် မည်သည့်ကူညီ ယိုင်းပင်း မှုကိုမျှလည်း ခံစားကြရမည်မဟုတ်ပေ။

وَإِذِ ابْتَلَىٰٓ إِبْرَٰهِۦمَ رَبُّهُۥ بِكَلِمَٰتٍ فَأَتَمَّهُنَّ ۖ قَالَ إِنِّى جَاعِلُكَ لِلنَّاسِ إِمَامًا ۖ قَالَ وَمِن ذُرِّيَّتِى ۖ قَالَ لَا يَنَالُ عَهْدِى الظَّٰلِمِينَ ﴿١٢٤﴾

၁၂၄။ တဖန် (အို-အစ္စရာအီလ်၏ မျိုးနွယ် အပေါင်းတို့၊ ပြန်လည်အောက်မေ့သတိရကြကုန်လော့) အခါတပါး၌ နဗီတမန်တော် အီဗ်ရာဟီမ်(အ)ကို ထိုနဗီတမန်တော်အားမွေးမြူတော်မူသောအရှင်မြတ် သည် အချို့သောကိစ္စရပ်များနှင့်စပ်လျဉ်း၍ စမ်းသပ် တော်မူလေရာ၊ ထိုနဗီတမန်တော်သည် ယင်းကိစ္စ အရပ်ရပ်တို့ကို ပြည့်စုံပြီးမြောက်အောင်ဆောင်ရွက်ခဲ့ လေသည်။ (ထိုအခါ) အလ္လာဟ်အရှင်မြတ်က (အို-တမန်တော်အီဗ်ရာဟီမ်) မုချဧကန် ငါအရှင်မြတ် သည် အသင့်အား လူခပ်သိမ်းတို့၏ ရှေ့ဆောင်ဦးစီး နာယကအဖြစ် ခန့်အပ်ခြီးမြှင့်တော်မူအံ့ဟု မိန့်ကြား တော်မူရာ နဗီတမန်တော် အီဗ်ရာဟီမ်(အ)က (အို-မဟာကရုဏာတော်နှင့် ပြည့်စုံတော်မူသော အနန္တ ကျေးဇူးတော်ရှင်) ကျွန်တော်မျိုး၏သားမြေးတို့အနက် မှလည်း (ထိုနည်းတူစွာ ရှေ့ဆောင် ဦးစီးနာယက အဖြစ် ခန့်အပ်တော်မူပါမည်လော) ဟု လျှောက်ထား ပန်ကြားပြန်လေသည်။ (ထိုအခါ) အလ္လာဟ်အရှင် မြတ်က ငါအရှင်မြတ်၏ပဋိညာဉ်တော်သည် ပြစ်မှု ကျူးလွန်သော မတရားသောသူတို့နှင့် မသက်ဆိုင်ဟု မြွက်ဟမိန့်ကြားတော်မူလေသတည်း။

وَإِذْ جَعَلْنَا الْبَيْتَ مَثَابَةً لِّلنَّاسِ

၁၂၅။ ၎င်းပြင် အသင်တို့သည် ပြန်လည်အောက်မေ့ သတိရကြကုန်လော့၊ အခါတပါး၌ ငါအရှင်မြတ်

وَاَمۡنًا ؕ وَاتَّخِذُوۡا مِنۡ مَّقَامِ اِبۡرٰهٖمَ مُصَلًّى ؕ وَعَهِدۡنَاۤ اِلٰۤى اِبۡرٰهٖمَ وَاِسۡمٰعِيۡلَ اَنۡ طَهِّرَا بَيۡتِىَ لِلطَّآٮِٕفِيۡنَ وَالۡعٰكِفِيۡنَ وَالرُّكَّعِ السُّجُوۡدِ ﴿۱۲۵﴾

သည်(ကအ်ဗဟ်)ကျောင်းတော်မြတ် [၁] ကို လူခပ်သိမ်းတို့အဘို့ သွားရောက်စုဝေးရာ ဗဟိုဌာနအဖြစ်ဖြင့်၎င်း၊ အဘယဒါယီ ဘေးရန်ခပ်သိမ်းကင်းငြိမ်းရာ ဌာနအဖြစ်ဖြင့်၎င်း၊ ပြုလုပ်သတ်မှတ်တော်မူခဲ့လေပြီ။ ထို့ပြင်တဝ *နဗီတမန်တော် အီဗ်ရာဟီမ်(အ)* ရပ်တည်ရာနေရာကို [၂] ဆွလာတ်ဝတ်ပြုရန် နေရာအဖြစ်သတ်မှတ်ကြကုန်ဟူ၍ အသင်တို့ကို ငါမိန့်တော်မူခဲ့လေသည်။ ထိုမှတပါး ငါ အရှင်မြတ်သည် နဗီတမန်တော် အီဗ်ရာဟီမ်(အ)နှင့် နဗီတမန်တော် အစ္စမာအီလ် (အ)တို့အား အသင်တို့ နှစ်ဦးသည် ငါအရှင်မြတ်၏ (ကအ်ဗဟ်) ကျောင်းတော်မြတ်ကို လှည့်ပတ်ဖူးမျှော် ကြသူတို့ အဘို့အရာ၎င်း၊ တရားကိုနှစ်သက်၍ ထိုကျောင်းတော်၌ တစ်ကိုယ်တစ်ကာယတည်း အိအ်တိကာဖ် ပြုလုပ်သီတင်းသုံးနေထိုင်ကြသူတို့ အဘို့အရာ၎င်း၊ ဦးညွတ်ရိုကျိုးသောသူအပေါင်းတို့ အဘို့အရာ၎င်း၊ ပျပ်ဝပ်ဦးချသောသူအပေါင်းတို့အဘို့အရာ၎င်း ဤငါ၏အိမ်တော်ကို (ရုပ်ပွားဆင်းတု၊ အညစ်အကြေး၊ အစရှိသည်တို့မှ) ရှင်းလင်းထားကြရမည်ဟု အမိန့်တော်ကို ချမှတ်တော်မူခဲ့လေသတည်း။

---

(၁) ဤပါဒတွင် "အလ်ဗိုက်တ်" ဟူသည်မှာ အလ္လာဟ်အရှင်မြတ်၏ ကျောင်းတော်ဖြစ်သော ကအ်ဗဟ်တော်ကို ဆိုလိုသည်။

ကအ်ဗဟ်ကျောင်းတော်မှာမူ အရဗ်နိုင်ငံရှိ မက္ကာမြို့တော်၌ တည်ရှိ၍ ကမ္ဘာမြေပြင်တစ်ဝှမ်းလုံးတွင် အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ရန်အလို့ငှာ ပဌမဆုံး တည်ဆောက်ထားသော ကျောင်းတော်ဖြစ်သည်ဟု ကုရ်အာန်ကျမ်းမြတ်တွင် ဤသို့ကျေညာထားသည်။ အမှန်စင်စစ် လူခပ်သိမ်းတို့၏ အကျိုးအတွက် ပဌမဦးစွာတည်ဆောက်ထားသော ကျောင်းတော်သည် မက္ကာမြို့၌တည်ရှိသော ကအ်ဗဟ်ကျောင်းတော်ဖြစ်၏။ ထိုကျောင်းတော်သည် မင်္ဂလာအပေါင်းနှင့် ပြည့်စုံ၏။ လူခပ်သိမ်းတို့အား တရားလမ်းမှန်ကို ညွှန်ပြလျက်ရှိ၏။

**ကျောင်းတော်၏ ဘွဲ့နာမများ**

ထိုဗိမာန်တော်ကို "ကအ်ဗဟ်" ဟူ၍၎င်း၊ ကုရ်အာန်(၅ : ၉၇)၊ (البيت الحرام)ဟူ၍၎င်း၊➤➤

➤➤ ကုရ်အာန် (၅ : ၂ ၊ ၅ : ၉၇)၊ ( البيت العتيق ) ဟူ၍၎င်း၊ ကုရ်အာန် ( ၂၂ : ၂၉ )၊ ( بيتك المحرم ) ဟူ၍၎င်း၊ ကုရ်အာန် (၁၄ : ၃၇) နာမအမျိုးမျိုးဖြင့် မှည့်ခေါ်ထားသည်။

**အိမ်တော်ကို မည်သူစတင် တည်ဆောက်သနည်း**

နဗီတမန်တော် အီဗ်ရာဟီမ်(အ)သည် အလ္လာဟ်အရှင်မြတ်၏ အိမ်တော်ကို စတင် တည်ဆောက်ခဲ့သည်မဟုတ်၊ ထိုအိမ်တော်ကို ပြုပြင်မွမ်းမံခဲ့ခြင်း မျှသာဖြစ်သည်၊ ကုရ်အာန်ကျမ်းမြတ် (၂ : ၁၂၇၊ ၁၄: ၃၇၊ ၂၂ : ၂၆)၏ သဘောကို ဆင်ခြင်ပါသော် ထိုအိမ်တော်သည် နဗီတမန်တော် အီဗ်ရာဟီမ်(အ)မပွင့်မီကပင် တည်ရှိနေပြီးဖြစ်ကြောင်း ထင်ရှားလှ၏။

အိမ်တော်ကို စတင်တည်ဆောက်သူမှာ ကမ္ဘာဦးဘခင် အာဒမ်(အ)ဟူ၍၎င်း၊ အပါးတော် စေတမန်များဟူ၍၎င်း အဆိုပြားလျက်ရှိသည့်အနက် ပဌမအဆိုမှာ ပို၍နှစ်သက်ဘွယ်ရာပင်။

အလ္လာဟ်အရှင်မြတ်သည် အပါးတော်စေတမန် ဂျိဗ်ရီလ်(အ)ကို စေလွှတ်၍ ကမ္ဘာဦးဘခင် အာဒမ်(အ)နှင့် ဟောင်ဝါသခင်မတို့အား ကအ်ဗဟ်ကျောင်းတော်ကို တည်ဆောက်စေတော်မူရာ ကမ္ဘာဦးဘခင်သည် ကျောင်းတော်ကို တည်ဆောက်လေသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်က ထိုကျောင်းတော်ကို လှည့်ပတ်ရန် အမိန့်ပေးတော်မူလေသည်။ ထို့နောက် ကမ္ဘာဦးဘခင်အား အသင်သည် ပဌမလူဖြစ်သကဲ့သို့ ဤကျောင်းတော်သည်လည်း လူသားတို့အတွက် ပဌမဆုံးတည်ဆောက်ထားသော အလ္လာဟ်၏ ကျောင်းတော်ဖြစ်သည်ဟု မိန့်ကြားတော်မူလေသည်။

ဤကား နဗီတမန်တော် မုဟမ္မဒ်(ဆွ)က မိန့်ကြားတော်မူသည်ဟု အာဆွ်၏သား အမ်ရ၊ အမ်ရ၏သား အဗ်ဒုလ္လာဟ်က ပြောကြားခြင်းတည်း။ (အီဗ်နုကဆီရ်)

Ⓙ ( مقام إبراهيم )၏အဓိပ္ပါယ်မှာ နဗီတမန်တော် အီဗ်ရာဟီမ် (အ)၏ ရပ်တည်ရာ ဌာနဟုရသည်၊ ထိုရပ်တည်ရာဌာနကို ဖွင့်ရာ၌ အဌကထာရှင်များ၏ ကွဲပြားလျက်ရှိသော အဆိုများကို အီဗ်နုဂျရီရ်သခင်က စုဆောင်းဖော်ပြထားသည်။

(က) မကာမိအီဗ်ရာဟီမ်ဟူသည် ဟဂျ် (ပြုခြင်းနှင့် သက်ဆိုင်ရာဌာန) အားလုံးကိုဆိုလိုသည်ဟု အချို့က အနက်ဖော်ပြသည်။

(ခ) မကာမိအီဗ်ရာဟီမ်သည် အရဖတ်၊ မုဇ်ဒလိဖဟ် နှင့် ဂျိမာရ်ခေါ် ဌာနများကို ဆိုသည်ဟု အချို့ကဆိုသည်။

(ဂ) မကာမိအီဗ်ရာဟီမ်သည် "ဟရမ်" ကိုဆိုလိုသည်ဟု အချို့ကဆိုသည်။

(ဃ) ကျောင်းတော်ကို တည်ဆောက်ရာ၌ အုတ်နံရံများ မြင့်တက်လာ၍ နဗီတမန်တော် အီဗ်ရာဟီမ်(အ)သည် ကျောက်ခဲများကို မ,မနိုင်သောအခါ ကျောက်တုံးတစ်ခုထက်တက်၍ ရပ်ခဲ့၏။ ထိုကျောက်တုံးကိုပင် မကာမိ အီဗ်ရာဟီမ်ဟု အချို့ကဆို၏။

(င) "မကာမိ အီဗ်ရာဟီမ်" ဟူသည် "မတ်စ်ဂျိဒ်ဟရာမ်" ကျောင်းတော်၌ ယနေ့အထိ "မကာမိအီဗ်ရာဟီမ်" ဟူ၍ (ထင်ရှားစွာ) ရှိသော ဌာနပင်ဖြစ်သည်ဟု အချို့ကဆို၏။

(စ) နဗီတမန်တော် အစ္စမာအီလ်(အ)၏ ကြင်ရာတော်က နဗီတမန်တော် အီဗ်ရာဟီမ်(အ)၏ ဦးခေါင်းကို ရေဆေးပေးရာတွင် နဗီတမန်တော် အီဗ်ရာဟီမ်(အ)၏ ခြေအောက်၌ ကျောက်တုံးတစ်ခုကို ထားရှိခဲ့ရာ နဗီတမန်တော်သည် ထိုကျောက်တုံးပေါ်၌ မိမိခြေကို တင်ထားလေသည်။ မကာမိ အီဗ်ရာဟီမ်သည် ထိုကျောက်တုံးပင်တည်း။

وَاِذْ قَالَ اِبْرٰهٖمُ رَبِّ اجْعَلْ هٰذَا بَلَدًا اٰمِنًا وَّارْزُقْ اَهْلَهٗ مِنَ الثَّمَرٰتِ مَنْ اٰمَنَ مِنْهُمْ بِاللّٰهِ وَالْيَوْمِ الْاٰخِرِ ۗ قَالَ وَمَنْ كَفَرَ فَاُمَتِّعُهٗ قَلِيْلًا ثُمَّ اَضْطَرُّهٗٓ اِلٰى عَذَابِ النَّارِ ۗ وَبِئْسَ الْمَصِيْرُ ﴿١٢٦﴾

၁၂၆။ ထို့ပြင်တဝ (ပြန်လည်အောက်မေ့သတိရကြကုန်လော့) တပါးသောအခါ၌ နဗီတမန်တော် အီဗ်ရာဟီမ်(အ)သည် (အလ္လာဟ် အရှင်မြတ်အထံတော်၌ ဤသို့ လျှောက်ထား ပန်ကြားသည်၊) အို-ကျွန်တော်မျိုးအား မွေးမြူတော်မူသောအရှင်၊ ဤဒေသကို (ခပ်သိမ်းကုန်သော ဘေးရန်တို့မှ ကင်းစေ၍) *ငြိမ်းချမ်းသာယာ (စည်ကားလှသော) မြို့တော်ဖြစ်ပါစေသတည်း၊*[၁] ထို့ပြင်ဤဒေသ၌ (မှီတင်းနေထိုင်ကြကုန်သော) မြို့သူမြို့သားများ အနက်မှ အလ္လာဟ်အရှင်မြတ်ကို လည်းကောင်း၊ (သေပြီးနောက် ပြန်လည်ရှင်ထမည့်) နောက်ဆုံးနေ့ကိုလည်းကောင်း ယုံကြည်သူ (အပေါင်း) တို့အားလည်း သစ်သီးဝလံ ခဲဘွယ်ဘောဇဉ် အမျိုးမျိုးကို စားသောက်သုံးစွဲရန် အလို့ငှာ ပေးသနားတော်မူပါ။

---

(၁) အို-အရှင်၊ ဤဌာနကို ငြိမ်းချမ်းသာယာသော မြို့တော်ဖြစ်စေ၍ ထိုမြို့တော်သားများအား စားသုံးရန်အလို့ငှာ အမျိုးမျိုးသော သစ်သီးဝလံ ခဲဘွယ်ဘောဇဉ်များကို ပေးသနားတော်မူပါဟု နဗီတမန်တော် အီဗ်ရာဟီမ်(အ)သည် မက္ကာမြို့တော်တည်ရာဌာနန္ဒ ဆုပန်ခဲ့လေသည်။

မက္ကာမြို့တော်တည်ရာဌာနသည် အတိတ်ခေတ်က ခြောက်သွေ့သောဌာန၊ အသွားအလာခက်ခဲသောဌာန၊ ခိုးသားဓားပြတို့ ခိုအောင်းရာဌာနဖြစ်ခဲ့ချေသည်၊ ယခုမူ ထိုမျှဆိုးဝါးလှသောဌာနသည်ပင် အလွန်တရာ စည်ပင်သာယာသော မြို့တော်ကြီးဖြစ်၍ နှစ်စဉ်နှင့်အမျှ ကမ္ဘာအရပ်ရပ်မှပင် သိန်းသန်းမကသော မွတ်စ်လင်မ်များသည် ထိုမြို့တော်ရှိ အရှင့်ကျောင်းတော်ကို အေးချမ်းသာယာစွာ လာရောက် ဖူးမျှော်နေကြသည်မှာ မျက်မြင်ပင်ဖြစ်ချေသည်။

မက္ကာမြို့တော်တည်ရှိရာဌာနသည် မိုးခေါင်ရေရှားသော သဲကန္တာရတစ်ခုမျှဖြစ်လင့်ကစား ထိုသဲကန္တာရ၌ပင် အခါကာလမရွေး လတ်ဆတ်သော အသီးအနှံဟင်းလျာများကို လိုလေသေးမရှိ ပြည့်စုံစွာ ရရှိနိုင်သည်မှာ အံ့ချီးမဆုံးဘွယ်ရာ တစ်ရပ်ပင်။ ဤကား နဗီတမန်တော် အီဗ်ရာဟီမ်(အ)၏ ဆုမွန်၏ အကျိုးအာနိသင်ပင်ဖြစ်သည်။ ကြည့်၊ ကုရ်အာန် (၂၈ : ၅၇)။

နဗီတမန်တော် အီဗ်ရာဟီမ်(အ)အပေါ်ဝယ် ငြိမ်းချမ်းခြင်းဟူသမျှ ရောက်စေသတည်းဟု အလ္လာဟ်အရှင်မြတ်က ကောင်းချီးပေးတော်မူလေသည်။ ကြည့်၊ ကုရ်အာန် (၃၇ : ၁၀၉)။

(ထိုရောအခါ) အလ္လာဟ်အရှင်မြတ်က “ [အို-အီဗ်ရာဟီမ်] အသင်တင်လျှောက်သည့် ပတ္ထနာဆုမွန်ကို ငါအရှင်မြတ်သည် လက်ခံတော်မူလေပြီ။ သို့ပြားလည်း ငါအရှင်မြတ်သည် ဤမြို့သူမြို့သားများအနက်မှ ငါအရှင်မြတ်ကို မယုံမကြည်သွေဖည်ငြင်းပယ်သူတို့အားလည်း အနည်းငယ်မျှကာလအဘို့(လောကီ)စည်းစိမ်ကို ပေးသနားတော်မူမည်။ နောင်တမလွန်ဘဝ၌မူ ငါအရှင်မြတ်သည် ထိုသူတို့အားငရဲမီးဘေး ရှိရာသို့ အတင်းအကြပ် မောင်းနှင်(ပို့ဆောင်) တော်မူမည်။ အမှန်စင်စစ် (ယင်းသူတို့)လားရာခရီး လမ်းဆုံးစခန်းသည် အလွန်ပင်ဆိုးဝါးလှပေသည်တကား” ဟု မိန့်ကြားတော်မူလေသည်။

၁၂၇။ ထိုမှတပါး (ပြန်လည်အောက်မေ့သတိရကြကုန်လော့) အခါတပါး၌ နဗီတမန်တော် အီဗ်ရာဟီမ်(အ)နှင့် (သားတော်) နဗီတမန်တော် အစ္စမာအီလ်(အ)တို့သည် (ကအ်ဗဟ်) ကျောင်းတော်မြတ်၏ကျောက်နံရံကို မြင့်တင်နေစဉ် (ဤသို့ဆုမွန်များကိုတောင်းဆိုကြကုန်၏)။ အို-ကျွန်တော်မျိုးတို့အားမွေးမြူတော်မူသောအရှင်၊ ကျွန်တော်မျိုးတို့ထံမှ(ဤကောင်းမှုကို မိမိ၏အနန္တကျေးဇူးတော်ဂုဏ်ဖြင့်)သဘောတူလက်ခံယူတော်မူပါ၊ [၁] ဧကန်မုချ အရှင်သည်သာလျှင် (ကျွန်တော်မျိုးတို့ တောင်းဆိုသောဆုများကို) ကြားတော်မူသောအရှင် (ကျွန်တော်မျိုးတို့၏ အဇ္ဈာသယ အာသာဆန္ဒများကိုလည်း) သိတော်မူသောအရှင် ဖြစ်တော်မူပါ၏။

وَإِذْ يَرْفَعُ إِبْرٰهِمُ الْقَوَاعِدَ مِنَ الْبَيْتِ وَإِسْمٰعِيلُ ۖ رَبَّنَا تَقَبَّلْ مِنَّا ۖ إِنَّكَ أَنْتَ السَّمِيعُ الْعَلِيمُ ﴿١٢٧﴾

---

(၁) နဗီတမန်တော် အီဗ်ရာဟီမ်(အ)သည် အလ္လာဟ်အရှင်မြတ်၏ အိမ်တော်မြတ်ကို တည်ဆောက်ရာ မိမိတည်ဆောက်နေသောကောင်းမှုကို လက်ခံတော်မူရန် (၂ း ၁၂၇-၁၂၈) တွင် ပါရှိသော ဆုမွန်ပတ္ထနာများကိုရွတ်ဆိုလေသည်။

➤➤

رَبَّنَا وَاجْعَلْنَا مُسْلِمَيْنِ لَكَ وَمِنْ ذُرِّيَّتِنَآ اُمَّةً مُّسْلِمَةً لَّكَ وَاَرِنَا مَنَاسِكَنَا وَتُبْ عَلَيْنَا ۚ اِنَّكَ اَنْتَ التَّوَّابُ الرَّحِيْمُ ﴿١٢٨﴾

၁၂၈။ အို-ကျွန်တော်မျိုးတို့အား မွေးမြူတော်မူသော အရှင်၊ အရှင်သည်ကျွန်တော်မျိုးတို့အား မိမိ၏ အမိန့်တော်ကိုခံယူသူ မွတ်စ်လင်မ်နှစ်ဦး ဖြစ်စေတော်မူပါ၊ ထိုနည်းတူစွာ ကျွန်တော်မျိုးတို့၏ သားစဉ်မြေးဆက်ကိုလည်း အရှင်၏ *အမိန့်တော်ကို နာခံကြသူ မွတ်စ်လင်မ်များ* [၁] ဖြစ်စေတော်မူပါ၊

ထိုမှတပါး အရှင်မြတ်သည် ကျွန်တော်မျိုးအား သာသနာရေး၌ လိုက်နာကြရမည်ဖြစ်သော နည်းနာနိသျှည်း အစီအစဉ်တို့ကိုလည်း စံနစ်တကျ ကျင့်သုံးနိုင်ကြ စေခြင်းငှာ သင်ကြားပြသပေးသနားတော်မူပါ၊ ထို့ပြင်လည်း အရှင်မြတ်သည် ကျွန်တော်မျိုးတို့ ဘက်သို့ ကရုဏာတော်ဖြင့် လှည့်တော်မူပါ၊

ဧကန်ဆတ်ဆတ် အရှင်မြတ် သည်သာလျှင် ကရုဏာတော်ဖြင့် အကြိမ်ကြိမ် အဖန်ဖန် လှည့်တော်မူသောအရှင်၊ အစဉ်အမြဲ သနားကြင်နာညှာတာတော်မူသောအရှင် ဖြစ်တော်မူပါ၏။

---

➤➤ **နှီးဆော်ချက်**

ကအ်ဗဟ် ကျောင်းတော်ကို တည်ဆောက်ရာ၌ နဗီတမန်တော် အီဗ်ရာဟီမ်(အ)နှင့် သားတော် နဗီတမန်တော် အစ္စမာအီလ်(အ) ဆုမွန်တောင်းဆိုခဲ့သည့် ထုံးတမ်းကိုလိုက်၍ ကောင်းမြတ်သော ကိစ္စရပ်များကို ဆောင်ရွက်ပြီးဆုံးသောအခါ၌ အလ္လာဟ်အရှင်မြတ်ထံတော်တွင် ဆုမွန်ကောင်းတောင်းခြင်းသည် အလွန်တရာ မြတ်နိုးဘွယ်ရာကောင်းသော ကိစ္စဖြစ်ပေသည်။

၁ မွတ်စ်လင်မ်တို့သည် ယနေ့တိုင်အောင် နဗီတမန်တော် အီဗ်ရာဟီမ်(အ)က မှည့်ခေါ်ခဲ့သော မွတ်စ်လင်မ်ဟူသော အမည်နှင့်သာ အခေါ်ခံနေကြရခြင်းမှာ ထိုနဗီတမန်တော်၏ ဆုမွန်ပတ္ထနာကို အလ္လာဟ်အရှင်မြတ်က သဘောတူ၍ လက်ခံတော်မူခြင်း၏ သက်သေခံတစ်ရပ်ဖြစ်သည်၊ ယခုအချိန် မွတ်စလင်များကို မုဟမ္မဒ်ဘာသာဝင်၊ အစ္စလာမ်ဘာသာကို မုဟမ္မဒ်ဘာသာဟု ခေါ်ဝေါ်သုံးစွဲ နေခြင်းမှာ ကျမ်းဂန်၌မပါ၊ လုံးဝမှားသည်၊ ရှောင်ကြဉ်ကြပါကုန်။

رَبَّنَا وَابْعَثْ فِيهِمْ رَسُولًا مِّنْهُمْ يَتْلُوا عَلَيْهِمْ اٰيٰتِكَ وَيُعَلِّمُهُمُ الْكِتٰبَ وَالْحِكْمَةَ وَيُزَكِّيهِمْ ۭ اِنَّكَ اَنْتَ الْعَزِيْزُ الْحَكِيْمُ ﴿١٢٩﴾

**၁၂၉**။ အို- ကျွန်တော်မျိုးတို့အားမွေးမြူတော်မူသော အရှင်၊ (အရှင်မြတ်၏) တရားဒေသနာတော်များကို ယင်းသူတို့၏ ရှေ့မှောက်ဝယ် ရွတ်ဘတ်သရဇ္ဈာယ် ရန်အလို့ငှာလည်းကောင်း၊ ကျမ်းဂန်မမ္မကွန်နှင့်တကွ ဉာဏ်အမြော်အမြင်ကိုပါ သွန်သင်ပြသသင်ကြားပေး ရန်အလို့ငှာလည်းကောင်း၊ ယင်းသူတို့အား အပြစ် ဒုစရိုက်မှုများမှ သန့်ရှင်းစင်ကြယ် စေရန်အလို့ငှာ လည်းကောင်း၊ ယင်းသူတို့အနက်မှပင် (ဆွေမျိုးသား ချင်းတော်စပ်သော) *ရစူလ်တမန်တော်တပါး* [၁] ကို ထိုသူတို့တွင်ပွင့်စေတော်မူပါ၊ ဧကန်မုချ အရှင်မြတ် သည်သာလျှင် တန်ခိုးအာနုဘော်နှင့် ပြည့်စုံတော် မူထသောအရှင်၊ ထူးသောအဘိဉာဏ် အမြော်အမြင် ဉာဏဒဿနနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော် မူပေသတည်းဟု [နဗီတမန်တော် အီဗ်ရာဟီမ်(အ) နှင့် သားတော် နဗီတမန်တော် အစ္စမာအီလ်(အ) တို့သည် ဆုတောင်းပတ္ထနာ ပြုကြလေသည်။]

وَمَنْ يَّرْغَبُ عَنْ مِّلَّةِ اِبْرٰهٖمَ اِلَّا مَنْ سَفِهَ نَفْسَهٗ ۭ وَلَقَدِ

**၁၃၀**။ မိမိကိုယ်ကို မိမိပင် လူမိုက်လူ့ဗာလဖြစ်စေ သောသူမှအပ အဘယ်သူသည် *နဗီတမန်တော် အီဗ်ရာဟီမ်(အ)၏* သာသနာမှ [၂] မျက်နှာလွှဲဖယ် တိမ်းရှောင်သွားနိုင်ပါမည်နည်း။

---

(၁) ဤပါဒတွင် (رَسُوْلًا) ဟု နဗီတမန်တော် အီဗ်ရာဟီမ်(အ)နှင့် နဗီတမန်တော် အစ္စမာအီလ်(အ)တို့က ဆုတောင်းခြင်းမှာ မြောက်မြားစွာသော နဗီတမန်တော်များ ပွင့်စေရန်ကို ဆုတောင်းသည်မဟုတ်၊ ရစူလ်တမန်တော်တစ်ပါးတည်း ပွင့်စေရန်သာ ဆုတောင်း ပတ္ထနာပြုလေသည်ကို ထင်ရှားစေသည်၊ သို့ဖြစ်၍ မှတ်သားဘွယ်ရာအချက်မှာ ပွင့်တော်မူမည့် ရစူလ်တမန်တော်သည် တစ်ပါးတည်းသာ ဖြစ်ရမည်။ တဖန် ထိုရစူလ်တမန်တော်သည် အစ္စမာအီလ်(အ)၏ အဆက်အနွယ်ဖြစ်သော အရဗ်လူမျိုးမှပင် ဖြစ်ရပေမည်။ ထိုအချက်နှစ်ရပ်လုံးသည် နဗီတမန်တော် မိုဟမ္မဒ်၌သာ ပြည့်စုံသည်ကို ထင်ရှားတွေ့ရသည်။ ထိုအချက်နှစ်ရပ်သည် အခြားမည်သည့် နဗီတမန်တော်များ၌မျှ မတွေ့ရှိချေ။

(၂) နဗီတမန်တော် အီဗ်ရာဟီမ်(အ)၏ သာသနာသည် သဘာဝဓမ္မနှင့် လုံးဝကိုက်ညီပေရာ၊ ဉာဏ ➢➢

اصْطَفَيْنٰهُ فِى الدُّنْيَا ۚ وَاِنَّهٗ فِى الْاٰخِرَةِ لَمِنَ الصّٰلِحِيْنَ ﴿١٣٠﴾

စင်စစ်တမူကား ငါ အရှင်မြတ်သည် ထိုနဗီတမန်တော် အီဗ်ရာဟီမ်(အ)အား ချစ်မြတ်နိုး၍ ဤလောက၌ နဗီတမန်တော်အဖြစ်ဖြင့် ရွေးချယ်ချီးမြှင့်တော်မူခဲ့လေပြီ။ တဖန် နောင်တမလွန်ဘဝ၌လည်း ထိုနဗီတမန်တော်သည် ပါရမီရှင် သူမွန်သူမြတ်များအနက်မှ မလွဲဧကန် ဖြစ်လတ္တံ့။

اِذْ قَالَ لَهٗ رَبُّهٗٓ اَسْلِمْ ۙ قَالَ اَسْلَمْتُ لِرَبِّ الْعٰلَمِيْنَ ﴿١٣١﴾

**၁၃၁။** (ပြန်လည်အောက်မေ့ သတိရကြကုန်လော့) အကြင်အခါ၌ နဗီတမန်တော် အီဗ်ရာဟီမ်(အ)ကို အလ္လာဟ် အရှင်မြတ်က [အို- အီဗ်ရာဟီမ်(အ) အသင်သည် ငါ အရှင်မြတ်၏] အမိန့် နာခံသူ (မွတ်စ်လင်မ်) ဖြစ်ပါလေဟု မိန့်ကြားတော် မူခဲ့၏။ ထိုအခါ နဗီတမန်တော် အီဗ်ရာဟီမ် (အ)က ကျွန်တော်မျိုးသည် ခပ်သိမ်းကုန်သော စကြာဝဠာ အပေါင်းတို့ကို မွေးမြူတော်မူထသော အရှင်မြတ်၏ အမိန့်တော်ကို ကြည်ဖြူစွာခံယူပါပြီဟု တင်လျှောက်ခဲ့လေသတည်း။

---

➤➤ ဒသနဉာဏ် ပညာအမြော်အမြင် ရှိသူများအတွက် ယင်းဘာသာကိုငြင်းပယ်ရန် အလျှင်းအကြောင်းမရှိနိုင်ပေ။ နဗီတမန်တော် မုဟမ္မဒ်(ဆွ)ဖြန့်ဖြူးတော်မူခဲ့သော အစ္စလာမ်သာသနာတော်သည် နဗီတမန်တော် အီဗ်ရာဟီမ်(အ) တည်ထောင်ခဲ့သော သာသနာပင်ဖြစ်သည်။ အစ အဆုံး သဘာဝဓမ္မနှင့် ကိုက်ညီသော သာသနာဖြစ်လေသည်။

ဤပါဒတွင် အစ္စလာမ် သာသနာကို အလ္လာဟ်အရှင်မြတ်၏ သာသနာ၊ သို့မဟုတ် အစ္စလာမ် သာသနာတော်ဟူ၍ မိန့်ဆိုမည့်အစား နဗီတမန်တော် အီဗ်ရာဟီမ်(အ)၏သာသနာဟု ခေါ်ဝေါ်သမုတ်ခြင်း အကြောင်းမှာ ယဟူဒီများ၊ ခရစ်ယာန်များနှင့် အရဗ်မိစ္ဆာဒိဋ္ဌိတို့သည်လည်း နဗီတမန်တော်အီဗ်ရာဟီမ်(အ)အား မွတ်စ်လင်မ်များကဲ့သို့ပင် မိမိတို့၏ရှေ့ဆောင် ဦးစီးနာယကဟူ၍ ယုံကြည်လက်ခံကြသည်ကို ထောက်ထား၍ မိန့်ဆိုခြင်းဖြစ်သည်။

သဘောမှာ ယခုငါအရှင်မြတ်က နဗီတမန်တော်မုဟမ္မဒ်(ဆွ)ထံသို့ ပို့ချလိုက်သော အစ္စလာမ် သာသနာသည် အသစ်အဆန်းမဟုတ်ပေ။ သင်တို့ယုံကြည်လေးစားသော နဗီတမန်တော် အီဗ်ရာဟီမ်(အ)၏သာသနာပင်ဖြစ်ချေသည်။ သင်တို့သည် ထိုနဗီတမန်တော်အားမိမိတို့၏ ရှေ့ဆောင်ဦးစီး နာယကဟူ၍ ယုံကြည်လက်ခံပါလျက်နှင့် အစ္စလာမ်သာသနာကိုမူ အဘယ့်ကြောင့် လက်မခံကြပါသနည်း။

وَوَصّٰى بِهَآ اِبْرٰهٖمُ بَنِيْهِ وَيَعْقُوْبُ ۗ يٰبَنِيَّ اِنَّ اللّٰهَ اصْطَفٰى لَكُمُ الدِّيْنَ فَلَا تَمُوْتُنَّ اِلَّا وَاَنْتُمْ مُّسْلِمُوْنَ ﴿١٣٢﴾

၁၃၂။ ထို့ပြင် နဗီတမန်တော် အီဗ်ရာဟီမ်(အ)နှင့် နဗီတမန်တော် ယအ်ကူဗ်(အ)တို့သည် ထိုအကြောင်းကိစ္စနှင့်စပ်လျဉ်း၍ မိမိတို့၏သားများကို အို-ငါ၏သားအပေါင်းတို့ မုချဧကန် အလ္လာဟ်အရှင်မြတ်သည်အသင်တို့အတွက်ရာ (အစ္စလာမ်) သာသနာတော်ကို ရွေးချယ်တော်မူပြီးဖြစ်ရာ အသင်တို့သည် အမိန့်တော်ကိုနာခံသော မွတ်စ်လင်မ်များ အဖြစ်နှင့်သာလျှင် သေဆုံးကြလေလော့ဟု ပစ္ဆိမဝစနနောက်ဆုံးစကားမှာကြားခဲ့လေသည်။

اَمْ كُنْتُمْ شُهَدَآءَ اِذْ حَضَرَ يَعْقُوْبَ الْمَوْتُ ۙ اِذْ قَالَ لِبَنِيْهِ مَا تَعْبُدُوْنَ مِنْۢ بَعْدِيْ ۗ قَالُوْا نَعْبُدُ اِلٰهَكَ وَاِلٰهَ اٰبَآئِكَ اِبْرٰهٖمَ وَاِسْمٰعِيْلَ وَاِسْحٰقَ اِلٰهًا وَّاحِدًا ۚۖ وَّنَحْنُ لَهٗ مُسْلِمُوْنَ ﴿١٣٣﴾

၁၃၃။ နဗီတမန်တော် ယအ်ကူဗ်(အ) သည် အလ္လာဟ်၏အမိန့်တော်ခံယူမည့်ဆဲဆဲ၌ မိမိ၏သားများကို (အမောင်တို့) အသင်တို့သည် ငါ ကွယ်လွန်ပြီးသည့်နောက် မည်သည်ကို ဆည်းကပ်ကိုးကွယ်ကြမည်နည်းဟု မေးမြန်းတော်မူရာ သားများက (အို-ဘခမည်းတော်)ကျွန်တော်တို့သည် ကျေးဇူးရှင် မွေးသဘခင်နှင့်တကွ ဘခင်၏ ဘိုးဘေးများဖြစ်သော နဗီတမန်တော် အီဗ်ရာဟီမ်(အ)၊ နဗီတမန်တော် အစ္စမာအီလ်(အ)နှင့် နဗီတမန်တော် အစ္စဟာက် (အ)တို့၏ ကိုးကွယ် ဆည်းကပ်ရာ တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ် ကိုသာလျှင် ခဝပ်ကိုးကွယ် ကြပါမည်။ ထိုအရှင်၏တရားဒေသနာတော် များကို သာလျှင် မြေဝယ်မကျ နာခံကြမည့် မွတ်စ်လင်မ်များ ဖြစ်ကြပါမည်ဟု ဖြေကြားကြလေသည်။ (အို-ယဟူဒီနှင့် ခရစ်ယာန်ဘာသာဝင်အပေါင်းတို့) နဗီတမန်တော် ယအ်ကူဗ်(အ)သည် မိမိ၏ သားများကို ယင်းကဲ့သို့သော ပစ္ဆိမဝစနစကားပြောကြားစဉ် အသင်တို့သည် မိမိတို့ကိုယ်တိုင်ရှိခဲ့ကြပါသလော၊

(အမှန်သော် သင်တို့သည် ထိုအချိန်၌ မရှိခဲ့ချေ။ သို့ဖြစ်ပါလျက် ထိုနဗီတမန်တော်များနှင့် စပ်လျဉ်း၍ အသင်တို့သည် ယခုအခါ၌ မည်သည့် နည်းဖြင့် ဤသို့ မဟုတ်မမှန်သော စကားကို ပြောဆို နိုင်ကြပါသနည်း၊)

تِلْكَ أُمَّةٌ قَدْ خَلَتْ لَهَا مَا كَسَبَتْ وَلَكُم مَّا كَسَبْتُمْ وَلَا تُسْـَٔلُونَ عَمَّا كَانُوا يَعْمَلُونَ ١٣٤

**၁၃၄။** (မည်သို့ပင် ဖြစ်စေ) ယင်းသူတို့သည် (အတိတ်ကာလ၌) လွန်လေပြီးသော သာသနာ၀င် လူစုဖြစ်ကြ၍ ယင်းသူတို့ ပြုကျင့် ဆည်းပူးခဲ့ သမျှသော သုစရိုက်မှု ကုသိုလ်ကံ၊ ဒုစရိုက်မှု အကုသိုလ်ကံတို့သည် ယင်းသူတို့အဘို့သာတည်း။ ထိုနည်းတူစွာ အသင်တို့ ပြုကျင့်ဆည်းပူးခဲ့သမျှသော (ကောင်းမှု မကောင်းမှု) တို့၏ အကျိုးသည်လည်း အသင်တို့အဘို့ သာတည်း။ ထိုမှတပါးတုံ အသင်တို့ သည် ယင်းသူတို့ ပြုကျင့်ခဲ့လေသော ကိစ္စများနှင့် စပ်လျဉ်း၍ စောကြော မေးမြန်းခြင်းကို ခံကြရမည် မဟုတ်ပေ။

وَقَالُوا كُونُوا هُودًا أَوْ نَصَارَىٰ تَهْتَدُوا قُلْ بَلْ مِلَّةَ إِبْرَٰهِمَ حَنِيفًا وَمَا كَانَ مِنَ الْمُشْرِكِينَ ١٣٥

**၁၃၅။** ထို့ပြင်တ၀ ယဟူဒီနှင့် ခရစ်ယာန်ဘာသာ ၀င်တို့က မွတ်စ်လင်မ်တို့အား ပြောဆိုကြသည်မှာ အသင်တို့သည် ယဟူဒီ ဘာသာ၀င်များသော် လည်းကောင်း၊ ခရစ်ယာန် ဘာသာ၀င်များသော် လည်းကောင်း၊ ဖြစ်ကြကုန်လော့။ သို့မှသာလျှင် အသင်တို့သည် မှန်ကန်သော တရားလမ်းကို ရရှိကြ လတ္တံ့. ဟု ပြောဆိုကြသည်။

အို-နဗီတမန်တော်၊ အသင်သည် ယင်း သူတို့အား ဤသို့ ပြန်လည်ဖြေကြားပါလေ။ (ဟယ်- အချင်းတို့) အသင်တို့ ပြောစကားများစွ၊ ငါတို့သည် နဗီတမန်တော် အီဗ်ရာဟီမ်(အ)၏ သာသနာကို

ယုံကြည်မြတ်နိုးသူများသာဖြစ်ကြကုန်၏။ ထိုနဗီတမန်တော်သည် ဖြောင့်မတ်သော [၁] ပုဂ္ဂိုလ်မြတ်ဖြစ်၏၊ ထိုနဗီတမန်တော်သည် အလ္လာဟ်နှင့် တွဲဘက်ကိုးကွယ်သူများတွင် အပါအဝင်လည်းမဟုတ်ချေ။

قُولُوٓا۟ ءَامَنَّا بِٱللَّهِ وَمَآ أُنزِلَ
إِلَيْنَا وَمَآ أُنزِلَ إِلَىٰٓ إِبْرَٰهِۦمَ
وَإِسْمَٰعِيلَ وَإِسْحَٰقَ وَيَعْقُوبَ
وَٱلْأَسْبَاطِ وَمَآ أُوتِىَ مُوسَىٰ
وَعِيسَىٰ وَمَآ أُوتِىَ ٱلنَّبِيُّونَ
مِن رَّبِّهِمْ لَا نُفَرِّقُ بَيْنَ
أَحَدٍ مِّنْهُمْ وَنَحْنُ لَهُۥ
مُسْلِمُونَ ﴿١٣٦﴾

**၁၃၆။** (အို-မွတ်စ်လင်မ်အပေါင်းတို့) အသင်တို့သည် ဤသို့ပြောဆိုကြကုန်လော့၊ ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်ကိုလည်းကောင်း၊ အကျွန်ုပ်တို့ထံပို့ချ သောဓမ္မဒေသနာ (ကုရ်အာန်ကျမ်းမြတ်)ကို လည်းကောင်း၊ နဗီတမန်တော် အီဗ်ရာဟီမ်(အ)၊ နဗီတမန်တော် အစ္စမာအီလ်(အ)၊ နဗီတမန်တော် အစ္စဟာက်(အ)၊ နဗီတမန်တော် ယအ်ကူဗ်(အ)နှင့် နဗီတမန်တော် ယအ်ကူဗ် (အ)၏ အမျိုးအနွယ် သားမြေးတို့ထံ ထုတ်ပြန်ပို့ချသော တရား ဒေသနာတော် များကို လည်းကောင်း၊ ယုံကြည်ကြပါသည်။[၂] ထို့ပြင် နဗီတမန်တော် မူစာ(အ)နှင့် နဗီတမန်တော် အီစာ(အ)တို့အား ပေးသနားတော် မူခြင်းခံရသော တရားဓမ္မများကိုလည်း ယုံကြည်ကြပါပြီ။ ထို့ပြင် အကျွန်ုပ်တို့သည် နဗီတမန်တော်အပေါင်းတို့ထံသို့ ထိုနဗီတမန်တော်များကို မွေးမြူတော်မူသောအရှင်၏အထံတော်မှ ပေးသနားတော်မူခြင်း ခံရကုန်သော ဒေသနာတော်များကိုလည်း ယုံကြည်ကြပါပြီ။

---

(၁) နဗီတမန်တော် အီဗ်ရာဟီမ်(အ)သည် မိမိ၏ ရာဇဝင်တလျှောက်လုံးတွင် (တွေ့ကြုံခဲ့ရသော ပြဿနာအရပ်ရပ်၌) မှားသောတရားများကို ဖဲကြဉ်၍ အမှန်ကိုသာ ဦးလည်မသုံ လိုက်နာကျင့်မူခဲ့ပေသည်။ ဟုတ်တိုင်းမှန်ရာကို မယိမ်းမယိုင် ကျောက်တိုင်ပမာ တည်တည်ကြည်ကြည် ပြုကျင့်သည့်အတွက် အလ္လာဟ်အရှင်မြတ်က ထိုနဗီတမန်တော်ကို "ဟနီးဖ်" ဟူသော ဂုဏ်တော်ဘွဲ့ဖြင့် ချီးမြှင့်တော်မူလေသည်။

(၂) ဤအမိန့်တော်သည် မွတ်စ်လင်မ်တို့ကို ပေးတော်မူသော အမိန့်တော်ဖြစ်၏။ "အကျွန်ုပ်တို့ထံ ထုတ်ပြန်ပို့ချတော် ဓမ္မဒေသနာတော်" ဟူသည်ကား ကုရ်အာန်ကျမ်းမြတ်ကို ဆိုလိုသည်။

နဗီတမန်တော် ယအ်ကူဗ် (အလိုင်ဟစ္စလာမ်)၏ သားမြေးတို့ဟူသည် ထိုသားမြေးတို့အနက် နဗီတမန်တော်များကိုသာ ဆိုလိုသည်။

(ထိုသို့ယုံကြည်ရာ၌ အကျွန်ုပ်တို့သည် ထိုနဗီ
တမန်တော်အပေါင်းတို့၊ အနက်မှ နဗီတမန်တော်
တစ်ပါးကို အခြား နဗီတမန်တော်တစ်ပါးနှင့် လုံးဝ
ခွဲခြားခြင်းလည်း မပြုကြပါ၊ အမှန်သော်ကား ကျွန်ုပ်
တို့သည် ထိုအလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်ကို
သာလျှင် လိုက်နာသူများပင် ဖြစ်ကြပါသည်။

فَإِنْ آمَنُوا بِمِثْلِ مَا آمَنتُم بِهِ فَقَدِ اهْتَدَوا ۖ وَّإِن تَوَلَّوْا فَإِنَّمَا هُمْ فِي شِقَاقٍ ۖ فَسَيَكْفِيكَهُمُ اللَّهُ ۚ وَهُوَ السَّمِيعُ الْعَلِيمُ ﴿١٣٧﴾

၁၃၇။ ထို့ကြောင့် အကယ်စင်စစ် (ယဟူဒီနှင့်
ခရစ်ယာန်ဘာသာဝင်တို့သည်) အသင်တို့ယုံကြည်
ကြသကဲ့သို့ ယုံကြည်ကြပါမူ ကေန်အမှန်ယင်းသူတို့
သည်လည်း တရားလမ်းမှန်ကို ရရှိကြကုန်အံ့။
သို့ရာတွင် အကယ်၍သာ လွှဲဖယ်ရှောင်ရှား ကျော
ခိုင်းသွားကြပါမူ ယင်းသူတို့သည် ငြင်းခုံကွဲပြား
ဆန့်ကျင်ဘက်ပြုကြသူများသာ ဖြစ်ကြလတ္တံ့။[၁]
သို့ဖြစ်လေရာ အကယ်၍ ယင်းသူတို့နှင့် ယှဉ်ပြိုင်
ဘို့ရာ အကြောင်းကိစ္စ ပေါ်လာပါက အသင်သည်
မစိုးရိမ်လင့်၊ အသင်၏အဘို့ရာ *အလ္လာဟ်အရှင်မြတ်
သည်လုံလောက်တော်မူအံ့။*[၂] စင်စစ်သော်ကား ထို
(အလ္လာဟ်)အရှင်မြတ်သည် အလုံးစုံတို့ကို အကြွင်း
မရှိ ကြားတော်မူထသောအရှင်၊ အရာခပ်သိမ်းကို
အကြွင်းမရှိ သိစွမ်းတော်မူထသောအရှင်ပေတည်း။

(၁) သဘောမှာ အကယ်၍သာ ယင်းသူတို့သည် ဤမျှရှင်းလင်း ထင်ရှားလှစွာသော တရားဒေသနာ ရောက်ရှိပြီးနောက်လည်း ယုံကြည်ခြင်း သဒ္ဒါတရားမရှိကြဘဲ အတိုက်အခံပြုနေကြပါလျှင် ထိုသူတို့ကို ရန်လိုသူများဟူ၍ပင် ဆိုရပေလိမ့်မည်။

(၂) ဤမုက္ခပါဌ်တော်ကို အလ္လာဟ်အရှင်မြတ်သည် နဗီတမန်တော် မုဟမ္မဒ်(ဆွ)အား စိတ်ပူပင်သောက မရှိစေရန်အလို့ငှာ မိန့်ဆိုတော်မူသည်။

ဆိုလိုရင်းမှာကား၊ အို-နဗီတမန်တော် မုဟမ္မဒ်(ဆွ) အသင်သည် ရန်သူများဝိုင်းရံလျက် ရှိခြင်းကြောင့်သော်၎င်း၊ အတိုက်အခံသမားတို့၏ လူဦးရေနှင့်အင်အား ကြီးမားခြင်းကြောင့်သော်၎င်း၊ စိတ်ပူပင် သောကဖြစ်ခြင်း၊ ကြောင့်ကြခြင်းမရှိပါလေနှင့်၊ ယင်းသူတို့သည် အသင်နှင့် အသင်၏ သာသနာကို မည်သို့မျှ အကျိုးယုတ်စေနိုင်ကြမည် မဟုတ်ချေ။ ငါအရှင်မြတ်သည် အသင့်အား ယင်းသူတို့၏ဘေးရန်များမှ ➢➢

صِبْغَةَ اللّٰهِ ۚ وَمَنْ اَحْسَنُ مِنَ اللّٰهِ صِبْغَةً ۫ وَّنَحْنُ لَهٗ عٰبِدُوْنَ ﴿١٣٨﴾

**၁၃၈။** (အို–မွတ်စ်လင်မ် အပေါင်းတို့၊ အသင်တို့သည် ယဟူဒီနှင့်ခရစ်ယာန် ဘာသာဝင်တို့ကို ဟယ်–အချင်းတို့ အကျွန်ုပ်တို့ကို) အလ္လာဟ်အရှင်မြတ်သည် (အစ္စလာမ် သာသနာတော်၏) ဆေးရောင်ဖြင့် [၁] ချယ်ထားတော် မူလေပြီ။ ထိုအလ္လာဟ် အရှင်မြတ်ထက်ပင် သာ၍ကောင်းမွန်စွာ ဆေးရောင်ချယ်နိုင်သူ မည်သူရှိပါသေးသနည်း။ ထို့ကြောင့် အကျွန်ုပ်တို့သည် ထိုအလ္လာဟ်အရှင်မြတ်ကို သာလျှင် ခဝပ်ကိုးကွယ်ကြသူများ ဖြစ်ကြသည် (ဟု ပြောဆိုကြကုန်လော့)။

قُلْ اَتُحَآجُّوْنَنَا فِى اللّٰهِ وَهُوَ رَبُّنَا وَرَبُّكُمْ ۚ وَلَنَآ اَعْمَالُنَا وَلَكُمْ اَعْمَالُكُمْ ۚ وَنَحْنُ لَهٗ مُخْلِصُوْنَ ﴿١٣٩﴾

**၁၃၉။** [အို–နဗီတမန်တော် မုဟမ္မဒ်(ဆွ)၊ အသင်သည် ယင်းယဟူဒီနှင့် ခရစ်ယာန် ဘာသာဝင်တို့ကို] ဟယ်–အချင်းတို့ အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ ငါတို့နှင့် အခြေအတင် ပြောဆိုငြင်းခုံကြလေသလော၊ စင်စစ်တမူကား ထိုအရှင်မြတ်သည်သာလျှင် ငါတို့ကို လည်းကောင်း၊ အသင်တို့ကိုလည်းကောင်း၊ မွေးမြူတော်မူသော အရှင်တည်း။ ထို့ပြင်တဝ ငါတို့၏ ကိုယ်ကျင့်သီလများသည် ငါတို့အတို့အရာသာ ဖြစ်သည်၊ ထိုနည်းတူစွာ အသင်တို့၏ ကိုယ်ကျင့် သီလများသည်လည်း အသင်တို့အတို့အရာသာဖြစ်သည်။ ငါတို့သည် ထိုအရှင်မြတ်ကိုသာလျှင် စိတ်စေတနာ ဖြူစင်စွာဖြင့် ကိုးကွယ်ဆည်းကပ်သူများ ဖြစ်ကြလေသည်ဟု ပြောကြားပါလေ။

➤➤ ကယ်ဆယ်စောင့်ရှောက်တော်မူလတ္တံ့။ ငါ၏ကယ်မစောင့်ရှောက်ခြင်းသည် အသင့်အတို့အရာမှချလုံလောက်ပေသည်ဟု ကောင်းစွာ ယုံကြည်အားထားပါလေ။

(၁) "အလ္လာဟ်အရှင်မြတ်၏ ဆေးရောင်" ဟူသည် အလ္လာဟ်အရှင်မြတ်၏ သာသနာဖြစ်သော အစ္စလာမ် သာသနာကိုပင် ဆိုလိုသည်။

أَمْ تَقُولُونَ إِنَّ إِبْرَٰهِۦمَ وَإِسْمَٰعِيلَ وَإِسْحَٰقَ وَيَعْقُوبَ وَٱلْأَسْبَاطَ كَانُوا۟ هُودًا أَوْ نَصَٰرَىٰ ۗ قُلْ ءَأَنتُمْ أَعْلَمُ أَمِ ٱللَّهُ ۗ وَمَنْ أَظْلَمُ مِمَّن كَتَمَ شَهَٰدَةً عِندَهُۥ مِنَ ٱللَّهِ ۗ وَمَا ٱللَّهُ بِغَٰفِلٍ عَمَّا تَعْمَلُونَ ﴿١٤٠﴾

**၁၄၀။** အသင်တို့က နဗီတမန်တော်များဖြစ်ကြသော အီဗ်ရာဟီမ်(အ)၊ အစ္စမာအီလ်(အ)၊ အစ္စဟာက်(အ)၊ ယအ်ကူဗ်(အ)နှင့် [နဗီတမန်တော် ယအ်ကူဗ်(အ)၏ သားမြေးတို့အနက်] ပွင့်သမျှသောနဗီတမန်တော်များသည် ယဟူဒီဘာသာဝင်များသော်လည်းကောင်း၊ သို့မဟုတ် ခရစ်ယာန်ဘာသာဝင်များသော်လည်းကောင်း၊ ဖြစ်ခဲ့ကြလေသည်ဟုပြောဆိုကြလေသလော။အို-နဗီတမန်တော်မုဟမ္မဒ်(ဆွ) အသင်သည် ယင်းသူတို့အား "ဟယ်-အချင်းတို့၊ (ဤအကြောင်းကို) အသင်တို့က ပင်ပို၍သိရှိကြလေသလော၊ သို့တည်းမဟုတ်အလ္လာဟ်အရှင်မြတ်ကပင် ပို၍ပင်သိရှိတော်မူပါသလော" ဟု မေးပါလေ၊(အကယ်၍ ဤအကြောင်းကိုသိလျက်နှင့်ပင် ယင်းသူတို့လျှို့ဝှက်ထားကြပါလျှင်) အလ္လာဟ်အရှင်မြတ် အထံတော်မှ ချပေးသနားတော်မူသော သက်သေခံချက်ကို ထိမ်ချန်လျှို့ဝှက် ထားသောသူထက်သာလွန်၍ မတရားသောသူသည် အဘယ်မှာရှိနိုင်ပါအံ့နည်း။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ပြုကျင့်ကြကုန်သောကိစ္စအဝဝကို လျစ်လျူရှုတော်မူမည့်အရှင်မဟုတ်ပေ။

تِلْكَ أُمَّةٌ قَدْ خَلَتْ ۖ لَهَا مَا كَسَبَتْ وَلَكُم مَّا كَسَبْتُمْ ۖ وَلَا تُسْـَٔلُونَ عَمَّا كَانُوا۟ يَعْمَلُونَ ﴿١٤١﴾

**၁၄၁။** ထိုသူတို့သည် (အတိတ်ကာလ၌) လွန်လေပြီးသောသာသနာဝင်လူစုဖြစ်ကြကုန်၍ ထိုသူတို့ပြုကျင့်ဆည်းပူးခဲ့သမျှသောသုစရိုက်မှုကုသိုလ်ကံ၊ ဒုစရိုက်မှုအကုသိုလ်ကံတို့သည် ထိုသူတို့အဘို့သာဖြစ်လေသည်။ ထိုနည်းတူစွာ အသင်တို့ပြုကျင့် ဆည်းပူးခဲ့သမျှသော(ကောင်းမှုမကောင်းမှု)တို့၏ အကျိုးသည်လည်း အသင်တို့အဘို့အရာသာတည်း။ ထိုမှတပါး အသင်တို့သည်ထိုသူတို့ ပြုကျင့်ခဲ့ကြသော ကိစ္စများနှင့် စပ်လျဉ်း၍ မေးမြန်းခြင်းကို ခံကြရမည်မဟုတ်ပေ။

سَيَقُولُ السُّفَهَآءُ مِنَ النَّاسِ مَا وَلّٰىهُمْ عَنْ قِبْلَتِهِمُ الَّتِىْ كَانُوْا عَلَيْهَا ۚ قُلْ لِّلّٰهِ الْمَشْرِقُ وَالْمَغْرِبُ ۚ يَهْدِىْ مَنْ يَّشَآءُ اِلٰى صِرَاطٍ مُّسْتَقِيْمٍ ﴿١٤٢﴾

၁၄၂။ မကြာမီ ကာလအတွင်း လူတို့အနက်မှ ("ကစ်ဗ်လဟ်" ပြောင်းလွှဲခြင်း၏ သဘောတရားကို နားမလည်ကြသော) လူ့ဗာလတို့က အဘယ် အရာသည် ယင်းမွတ်စ်လင်မ်များကို မိမိတို့၏ နဂိုမူလ မျက်နှာမူရာ အရပ်ဒိသာဘက်မှ ပြောင်းလွှဲအောင် ပြုဘိသနည်း ဟု မုချ (ကဲ့ရဲ့ပြစ်တင်) ပြောဆိုကြကုန်အံ့။ [၁] (အို-နဗီတမန်တော်) အသင်သည် အရှေ့ နေထွက်ရာ အရပ်ကိုလည်းကောင်း၊ အနောက် နေဝင်ရာ အရပ်ကိုလည်းကောင်း၊ (အရပ်ရှစ်မျက်နှာလုံးကို) အလ္လာဟ်အရှင်မြတ်သည်သာလျှင် ပိုင်ဆိုင်တော်မူသည်၊ ထို အရှင်မြတ်သည် မိမိ နှစ်လိုတော်မူသောသူကိုသာလျှင် ဖြောင့်မတ်မှန်ကန်သော တရားလမ်းသို့ ညွှန်ကြားပြသ ပို့ဆောင်တော် မူသည်ဟု (ထိုသူတို့အား) တုံ့ပြန်ဖြေကြားပါလေ။

---

(၁) **နိဒါန္နကထာ**

အစ္စရာအီလီ လူမျိုးတို့၏ (ကစ်ဗ်လဟ်) မျက်နှာမူရာ အရပ်သည် "ဗိုင်တုလ်မုကဒ္ဒတ်စ်" ယေရုရှလင်မြို့တော်ရှိ နဗီတမန်တော် စုလိုင်မာန် (အလိုင်ဟစ္စလာမ်) တည်ဆောက်ခဲ့သော "မတ်စ်ဂျေ့ဒ္ဒေအတ်က်ဆွာ" ဗလီကျောင်းတော်ပင် ဖြစ်သည်။ နဗီတမန်တော် မုဟမ္မဒ်(ဆွ)သည် မူလက မက္ကာမြို့တော်၌ သီတင်းသုံးနေခိုက်တွင်၎င်း၊ မဒီနာမြို့တော်သို့ ရွှေ့ပြောင်း၍ သီတင်းသုံးနေရာတွင် ပဌမတနှစ်ခွဲနီးပါးအထိ၎င်း၊ "မတ်စ်ဂျေ့ဒ္ဒေ အတ်က်ဆွာ" ဗလီကျောင်းတော်ဘက်သို့ပင် မျက်နှာမူ၍ ဆွလာတ်ဝတ်ပြုခဲ့လေသည်။

နဗီတမန်တော် မုဟမ္မဒ်(ဆွ)သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ "မတ်စ်ဂျေ့ဒ္ဒေအတ်က်ဆွာ" ဘက်သို့ မျက်နှာမူ၍ ဝတ်ပြုနေရလင့်ကစား ဘေးတော် နဗီတမန်တော်အီဗ်ရာဟီမ် (အ)တည်ဆောက်ခဲ့သော မက္ကာမြို့တော်ရှိ "ဗိုင်တုလ္လာဟ်" ခေါ် အလ္လာဟ်အရှင်မြတ်၏ အိမ်တော်ဘက်သို့သာ မျက်နှာမူ၍ ဆွလာဟ် ဝတ်ပြုရန် အာသာဆန္ဒ ပြင်းပြလျက်ရှိနေလေသည်။

မဒီနာမြို့တော်၌ နဗီတမန်တော် သီတင်းသုံး၍ ၁၆လ၊ သို့မဟုတ် ၁၇လကြာလတ်သော် "ယခုမူ အသင်သည် မတ်စ်ဂျေ့ဒ္ဒေဟရာမ်(ခေါ်) မက္ကာမြို့တော်ရှိ အလ္လာဟ်အရှင်မြတ်၏ ကျောင်းတော်ဘက်သို့ မျက်နှာမူ၍ ဆွလာတ်ဝတ်ပြုလေ" ဟူသော အမိန့်တော်သည် အလ္လာဟ်အရှင်မြတ် အထံတော်မှ ကျရောက် လာလေသည်။ [ကြည့်၊ ဗုခါရီကျမ်း။]

မျက်နှာမူရာအရပ်လွှဲပြောင်းရန်အမိန့်တော်ကျရောက်လာသည့်အခါနဗီတမန်တော် မုဟမ္မဒ်(ဆွ)နှင့်တကွ သာဝကများသည်မဒီနာမြို့ရှိ "မတ်စ်ဂျေ့ဒ္ဒေကုဗာ" ဗလီဝတ်ကျောင်းတော်တွင် ဆွလာဟ်ဝတ်ပြုလျက် ➤➤

وَكَذٰلِكَ جَعَلْنٰكُمْ اُمَّةً وَّسَطًا لِّتَكُوْنُوْا شُهَدَآءَ عَلَى النَّاسِ وَيَكُوْنَ الرَّسُوْلُ عَلَيْكُمْ شَهِيْدًا ۗ وَمَا جَعَلْنَا الْقِبْلَةَ الَّتِىْ كُنْتَ عَلَيْهَآ اِلَّا لِنَعْلَمَ

၁၄၃။ ထို့ပြင် ဤနည်းနှင်နှင် ငါအရှင်မြတ်သည် အသင်တို့ကိုလည်း *အလယ်အလတ်* [၁] (တရားမျှတသော အမြင့်မြတ်ဆုံးသော) သာသနာ၀င်များအဖြစ် ပြုတော်မူခဲ့လေပြီ၊ (ယင်းကဲ့သို့ပြုတော်မူခြင်းမှာ) အသင်တို့သည် လူခပ်သိမ်းတို့အဘို့ *အသိသက်သေများ* [၂] ဖြစ်စေအံ့သောငှာရင်း၊ ထို့ပြင်ရစူလ်တမန်တော် (မုဟမ္မဒ်)သည်လည်း အသင်တို့အဘို့ အသိသက်သေဖြစ်စိမ့်သောငှာရင်း၊ (ပြုတော်မူခြင်းပင်)ဖြစ်လေသည်။

---

➤➤ ရှိကြကုန်၏။ အမိန့်တော် ကျရောက်လာသည်နှင့် တပြိုင်နက် ၀တ်ပြုနေစဉ်အတွင်းမှာပင် မတ်စ်ဂျိဒ္ဒေအတ်က်ဆွာ ဘက်မှ မက္ကာမြို့တော်ရှိ အလ္လာဟ်အရှင်မြတ်၏ ကျောင်းတော်ဘက်သို့ မျက်နှာလှည့်၍ ၀တ်ပြုကြလေသည်။

ယဟူဒီဘာသာ၀င်တို့သည် မွတ်စ်လင်မ်များအပေါ်၌ မကျေနပ်မှုများ အများအပြားရှိလင့်ကစား ၀တ်ပြုရာ၌ မျက်နှာမူရာအရပ်ချင်း ထပ်တူထပ်မျှရှိနေသည်ကို နှစ်သိမ့်လျက် ဂုဏ်ယူပြောဆိုနေခဲ့ကြ၏၊ ထိုအခိုက်မှာပင် မွတ်စ်လင်မ်တို့၏ မျက်နှာမူရာအရပ်ပြောင်းလဲသွားရာ ယဟူဒီဘာသာ၀င်တို့သည် မွတ်စ်လင်မ်တို့ကို အမျိုးမျိုးအဖုံဖုံ ကဲ့ရဲ့ပြစ်တင်ပြောဆိုကြလေသည်။

မျက်နှာမူရာအရပ် ပြောင်းလဲသွားသည့်အခါ ယဟူဒီဘာသာ၀င်တို့က ယင်းကဲ့သို့ ကဲ့ရဲ့ပြစ်တင်ပြောဆိုကြမည့်အကြောင်းကို အလ္လာဟ်အရှင်မြတ်က ကြိုတင်၍ ဤမုက္ခပါဌ်တော်တွင် ဗျာဒိတ်ပေးထားတော်မူခြင်းပေတည်း။ (တဖ်စီရ်ကဗီရ်)

(၁) အစ္စလာမ်သာသနာမထွန်းကားမီ အတိတ်ခေတ်များတွင် လူတို့သည် နှစ်မျိုးနှစ်စားသော အယူ၀ါဒကို လိုက်စားခဲ့ကြလေသည်၊ အချို့သည် လောကုတ္တရာရေးများကို အလျင်းစွန့်ပယ်၍ လောကီစည်းစိမ်များတွင် လုံး၀နစ်မွန်းနေခဲ့ကြကုန်၏။ ကျန်တစုမှာမူလောကုတ္တရာရေးများကိုသာ တဘက်သတ်လေ့လာလိုက်စားခဲ့ကြကုန်၏။ ဤ၀ါဒနှစ်ရပ်ကား သဘာ၀လည်းမကျ လိုက်နာကျင့်သုံးခြင်းငှာလည်း ခဲယဉ်းလှစွာသော လမ်းစဉ်သာဖြစ်သည်။

အစ္စလာမ်သာသနာသည်ကား လူ့ဘ၀မွေနှင့်အညီ လောကီရေးနှင့် လောကုတ္တရာရေး နှစ်မျိုးလုံးကို မယုတ်မလွန် ဒွန်တွဲ၍ လေ့လာလိုက်စားစေပြီး နှစ်ဘ၀၏သုခကို ဆောင်ကြဉ်းလေသည်။ ဤအတွက်ကြောင့်ပင် မွတ်စ်လင်မ်များသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်နှင့်အညီ နှစ်ဘ၀၏သုခချမ်းသာကိုပင် ပန်ထွာကြလေသည်။ သို့ဖြစ်၍ ဤပါဒတွင်ပါရှိသော "၀စတွာန်" ၏အနက်အဓိပ္ပါယ်မှာ မဇ္ဈိမပဋိပဒါ အလယ်အလတ် ဖြစ်သော လမ်းစဉ်ဖြစ်သည်။

(၂) "ရှုဟဒါ" - ဆိုလိုရင်းသဘောကား မွတ်စ်လင်မ်တို့သည် လူခပင်းအဘို့ စံပြများ ဖြစ်ကြသည့်အတိုင်း နဗီတမန်တော် မုဟမ္မဒ်(ဆွ)သည်လည်း မွတ်စ်လင်မ်တို့အဘို့ စံပြပင်ဖြစ်တော်မူလေသည်ဟူလို။

مَنْ يَّتَّبِعُ الرَّسُوْلَ مِمَّنْ يَّنْقَلِبُ عَلٰى عَقِبَيْهِ ۭ وَاِنْ كَانَتْ لَكَبِيْرَةً اِلَّا عَلَى الَّذِيْنَ هَدَى اللّٰهُ ۭ وَمَا كَانَ اللّٰهُ لِيُضِيْعَ اِيْمَانَكُمْ ۭ اِنَّ اللّٰهَ بِالنَّاسِ لَرَءُوْفٌ رَّحِيْمٌ ﴿۱۴۳﴾

စင်စစ် ငါ အရှင်မြတ်သည် အသင် (နဗီမူလက) မျက်နှာမူခဲ့ဘူးသည့် ကစ်ဗ်လဟ် (ဝါ) ဗိုင်တုလ်မုကဒ္ဒတ်စ် ကို (ကစ်ဗ်လဟ်အဖြစ်ယာယီအားဖြင့်) ထားရှိတော်မူခဲ့ခြင်းအကြောင်းမှာ (နောင်အနာဂတ်တွင် "ကစ်ဗ်လဟ်" မျက်နှာမူရာ "ကအ်ဗဟ်" ဘက်သို့ ပြောင်းလွှဲသောအခါ) ရစူလ်တမန်တော်၏ အမိန့်ကို လိုက်နာသောသူနှင့် မိမိတို့ခြေဖနောင့်ဘက်သို့ ပြန်လှည့်သွား သူတို့ကို (ခွဲခြား) သိတော်မူရန်သာ ဖြစ်ချေသည်။ စင်စစ်သော်ကား ("ကစ်ဗ်လဟ်" ပြောင်းလွှဲရန် အမိန့်တော်သည်) အလ္လာဟ်အရှင်မြတ်က တရားလမ်းမှန်ကို ညွှန်ကြားပြသ (ပို့ဆောင်)တော်မူခြင်းကို ခံရသူတို့မှအပ (အခြားသူတို့ အဘို့လိုက်နာရန်) အလွန်ပင် ခဲယဉ်းလှပေသည်။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အသင်တို့၏ ယုံကြည်ခြင်း သဒ္ဓါတရား [(ဝါ) မူလ ကစ်ဗ်လဟ်ဘက်သို့ မျက်နှာမူ၍ ဆွလာတ်ဝတ်ပြုခဲ့ကြသည်] ကို အချည်းနှီးအကျိုးမဲ့ ဖြစ်စိမ့်သောငှာ (ဤသို့ပြောင်းလွှဲရန် အမိန့်ထုတ်ပြန်တော် မူသည်) မဟုတ်ချေ။ [၁] အလ္လာဟ်အရှင်မြတ်သည် လူခပ်သိမ်းတို့အပေါ်ဝယ် စင်စစ် နူးညံ့သိမ်မွေ့တော် မူထသောအရှင်၊ မပြတ်မစဲ သနား ညှာတာတော် မူထသောအရှင်၊ ဖြစ်တော်မူပေသတည်း။

---

(၁) ကုရ်အာန်ကျမ်းလာ ဤဝါကျ၏ အဓိပ္ပါယ်ကို ရှင်းလင်းပြဦးအံ့။

(က) ဤဝါကျ၌ပါရှိသော "အီမာန်" ဟူသောပုဒ်၏သဘောမှာ ဆွလာတ်ဝတ်ပြုခြင်းဖြစ်သည်၊ အကြောင်းဖော်ပြရသည်ရှိသော် မျက်နှာမူရာအရပ်ပြောင်းလွှဲရန် အမိန့်တော်ကျရောက်လာသည့်အခါ အချို့သာဝကကြီးများ၏စိတ်တွင် ထိုအမိန့်တော်မကျရောက်မီ ငါတို့ပြုခဲ့ဘူးသောဆွလာတ်ဝတ်ပြုမှုသည် အဘယ်သို့ဖြစ်မည်နည်း၊ ထိုအမိန့်တော်မကျရောက်မီ ကွယ်လွန်အနိစ္စရောက်ခဲ့ကြသော မွတ်စ်လင်မ်တို့၏ အရေးသည် အဘယ်သို့ဖြစ်ပါလိမ့်မည်နည်းဟူသော တွေးတောမှုသည် ပေါ်ပေါက်လာပေရာ အလ္လာဟ်အရှင်မြတ်က ငါအရှင်သည် ဤ အမိန့်တော် မကျရောက်မီက အသင်တို့ ပြုခဲ့သော ဆွလာတ် ဝတ်ပြုမှုကိုငင်း၊ ➢➢

قَدْ نَرَىٰ تَقَلُّبَ وَجْهِكَ فِي السَّمَاءِ ۖ فَلَنُوَلِّيَنَّكَ قِبْلَةً تَرْضَاهَا ۚ فَوَلِّ وَجْهَكَ شَطْرَ الْمَسْجِدِ الْحَرَامِ ۚ وَحَيْثُ مَا كُنْتُمْ فَوَلُّوا وُجُوهَكُمْ شَطْرَهُ ۗ وَإِنَّ الَّذِينَ أُوتُوا الْكِتَابَ لَيَعْلَمُونَ أَنَّهُ الْحَقُّ مِنْ رَبِّهِمْ ۗ وَمَا اللَّهُ بِغَافِلٍ عَمَّا يَعْمَلُونَ ﴿١٤٤﴾

၁၄၄။ အသင်သည် (မိမိစိတ်တွင်းဝယ် ဆွလာတ်ဝတ်ပြုရာ၌မျက်နှာမူရန် ကအ်ဗဟ်ကျောင်းတော်ကို ကစ်ဗ်လဟ်ဖြစ်စေလို၍ အလ္လာဟ်အရှင်မြတ်အထံတော်မှ အမိန့်တော်ကိုမျှော်လင့်လျက်) မိုးကောင်းကင်သို့ အကြိမ်ကြိမ်မျက်နှာမော်၍ ကြည့်နေသည်ကိုငါအရှင်မြတ်သည် မုချ မြင်တော်မူသည်ဖြစ်လေရာ အသင်နှစ်သက်လေသော"ကစ်ဗ်လဟ်" ဘက်သို့အသင့်အား ငါအရှင်မြတ်သည် မုချဧကန် လှည့်၍ပေးတော်မူအံ့။ သို့ဖြစ်ရာ (အို-နဗီတမန်တော်) အသင်သည် မိမိမျက်နှာကို (ယခုချိန်မှစ၍ ဆွလာတ်ဝတ်ပြုရာတွင်) မတ်စ်ဂျိဒေဟရာမ် (ဝါ) ကအ်ဗဟ်ကျောင်းတော်ဘက်သို့လှည့်ပါလေ။ ထိုမှတပါးအသင်တို့သည် မည်သည့်နေရာ (*အရပ်ဒေသ*)၌ပင် ရှိနေစေကာမူ [၁] (ဆွလာတ်ဝတ်ပြုသောအခါ) ယင်း (မတ်စ်ဂျိဒ္ဒေဟရာမ်)ဘက်သို့ သာလျှင် မိမိတို့မျက်နှာများကို လှည့်ကြကုန်လော့။

➢➢ (အသင်တို့အလျင်သေဆုံးသွားကြသောသူများ၏ ဆွလာတ်များကိုဂုဏ်၊ အချည်းနှီးဖြစ်စေမည်မဟုတ်) ဟု မိန့်ကြားတော်မူလေသည်။ ဤကား "စုယူတ္တိ" ၏အဆိုတည်း။

(ခ) ဤပါဒ၌ပါရှိသော "အီမာန်"ဟူသောပုဒ်၏အနက်မှာ ယုံကြည်ခြင်းသဒ္ဓါတရားဟူသော မူရင်းအဓိပ္ပါယ်အတိုင်းပင် ဖြစ်သည်၊ ယင်းပုဒ်၏အနက်မှာ ဆွလာတ်ဝတ်ပြုခြင်းမဟုတ်ပေ၊ မျက်နှာမူရာအရပ်ကို ပြောင်းလွဲလိုက်သည့်အခါ အချို့သော သာသနာ့အရေခြုံများသည် သာသနာတော်ကို သွေဖည်သွားကြကုန်၏၊ သို့ရာတွင် ထိုသို့မျက်နှာမူရာအရပ် ပြောင်းလွဲသွားသည့်အတွက် မွတ်စ်လင်မ်တို့၏ "အီမာန်" ယုံကြည်ခြင်း သဒ္ဓါတရားတွင် ပြောင်းလွဲမှုစိုးစဉ်းမျှ မဖြစ်သည့်ပြင် ယင်းသူတို့သည် သာသနာတော်ကို ယခင်ထက်ပင် ကြည်ညိုမြတ်နိုးလာကြကုန်၏။ ဤကဲ့သို့ ယုံကြည်ခြင်းသဒ္ဓါတရား ထားရှိကြသော မွတ်စ်လင်မ်တို့အား အလ္လာဟ်အရှင်မြတ်က အို-မုအ်မင်န်အပေါင်းတို့၊ ငါအရှင်သည် အသင်တို့၏(တည်ကြည်သော) ယုံကြည်ခြင်း သဒ္ဓါတရားကို အဟောသိက ဖြစ်စေမည်မဟုတ်၊ ပူပင်သောကမရှိကြလင့်၊ ငါအရှင်သည် အသင်တို့အား ကုသိုလ်အကျိုးကို ဆထက်တိုး၍ ချီးမြှင့်တော်မူအံ့ဟု မိန့်ဆိုခြင်းပင်တည်း။

(၁) "မည်သည့်နေရာ၌မဆို အသင်တို့သည်ရှိအံ့" ဟုဆိုရာ၌ "ဖုကဟာ" ဓမ္မဝိနိစ္ဆယ သုခမိန်များက ဆွလာတ်ဝတ်ပြုခြင်းသည် သန့်ပြန့်သောနေရာတိုင်း၌ ပြုပိုင်သည်။ ဗလီဝတ်ကျောင်းများ၌သာ ဆွလာတ်ဝတ်ပြုရမည်ဟူ၍ အထူးပညတ်ထားသည်မဟုတ်။ အကြောင်းရှိက မည်သည့်သန့်ပြန့်သောနေရာ၌မဆို ဝတ်ပြုပိုင်ခွင့်ရှိသည်ဟု ဤပါဒကို သာဓကအဖြစ် အမှီပြု၍ စီရင်ဆုံးဖြတ်ကြသည်။ ကြည့်-မာဂျိဒီ။

အမှန်စင်စစ် (အလ္လာဟ်အရှင်မြတ်ထံမှ) ကျမ်းဂန်ရသောသူတို့သည်(လည်း) ထို (မတ်စ်ဂျိဒ္ဒေဟရာမ်ရှိရာဘက်သို့ မျက်နှာမူရန် အမိန့်တော်သည်) မိမိတို့အား မွေးမြူတော်မူသော (အလ္လာဟ်) အရှင်မြတ်အထံတော်မှကျရောက်၍ မှန်ကန်သော အမိန့်တော်ပင်ဖြစ်သည်ဟု မုချအမှန် သိရှိကြကုန်၏။ (သို့ရာတွင် မနာလိုမုန်းထားသော သဘောဖြင့်သာလျှင် မထိမဲ့မြင်ပြုကြလေသတည်း)၊ စင်စစ် အလ္လာဟ်အရှင်မြတ် သည် ယင်းသူတို့ပြုမူကျင့်ကြံလေသောကိစ္စရပ်များကို မေ့လျော့လျစ်လျူရှုတော်မူမည့်အရှင်မဟုတ်ပေ။

၁၄၅။ ထို့ပြင်တဝ (အို-နဗီတမန်တော်၊ အလ္လာဟ်အရှင်မြတ်အထံတော်မှ) ဓမ္မဒေသနာ ကျမ်းဂန်များရှိသူ (ယဟူဒီနှင့် ခရစ်ယာန်)တို့ရှေ့ဝယ် အကယ်စင်စစ် အသင်သည် သက်သေသာဓက လက္ခဏာဟူသမျှကိုယူဆောင်တင်ပြပါသော်လည်း ယင်းသူတို့သည် အသင်၏မျက်နှာမူရာ ကစ်ဗလဟ်ကို လိုက်နာကြလိမ့်မည် မဟုတ်ချေ။ အသင်သည်လည်း ယင်းသူတို့၏မျက်နှာမူရာအရပ်ကို လိုက်နာမည်မဟုတ်။ ယင်း (ယဟူဒီနှင့် ခရစ်ယာန်) တို့သည်လည်း အချင်းချင်း အချို့သည်အချို့၏ မျက်နှာမူရာအရပ်ကို လိုက်နာကြသည် မဟုတ်ပေ။ သို့ဖြစ်၍ (ငါ၊ အရှင်မြတ်၏ အထံတော်မှ ကအ်ဗဟ်ကျောင်းတော်ဘက်သို့ မျက်နှာမူရန် အမိန့်တော်ကျရောက်၍ မှန်ကန်သော) အသိတရားများ အသင့်ထံရောက်ပြီးသည့်နောက် အသင်သည် ယင်းသူတို့၏ အလိုဆန္ဒများကို အကယ်စင်စစ် လိုက်လျောခဲ့ပါမူ အသင်သည် ပြစ်မှုကျူးလွန်သောသူများတွင် ဧကန်မုချ တဦးအပါအဝင် ဖြစ်ချေတော့အံ့။

وَلَئِنْ أَتَيْتَ الَّذِينَ أُوتُوا الْكِتَابَ بِكُلِّ آيَةٍ مَّا تَبِعُوا قِبْلَتَكَ ۚ وَمَا أَنتَ بِتَابِعٍ قِبْلَتَهُمْ ۚ وَمَا بَعْضُهُم بِتَابِعٍ قِبْلَةَ بَعْضٍ ۚ وَلَئِنِ اتَّبَعْتَ أَهْوَاءَهُم مِّن بَعْدِ مَا جَاءَكَ مِنَ الْعِلْمِ ۙ إِنَّكَ إِذًا لَّمِنَ الظَّالِمِينَ ﴿١٤٥﴾

الَّذِينَ آتَيْنَاهُمُ الْكِتَابَ يَعْرِفُونَهُ
كَمَا يَعْرِفُونَ أَبْنَاءَهُمْ ۖ وَإِنَّ فَرِيقًا
مِّنْهُمْ لَيَكْتُمُونَ الْحَقَّ وَهُمْ
يَعْلَمُونَ ﴿١٤٦﴾

**၁၄၆။** အမှန်စင်စစ် (တောင်ရာတ်နှင့် အင်န်ဂျီလ်) ကျမ်းများကို ငါအရှင်မြတ်ပေးသနားတော်မူသော (ယဟူဒီနှင့် ခရစ်ယာန်တို့၏ ပညာရှိ သုခမိန်)တို့သည် မိမိတို့၏ သားမြေးတို့ကို သိဘိသကဲ့သို့ပင် ထို[နဗီတမန်တော်မုဟမ္မဒ်(ဆွ)] ကိုလည်း သိကြလေသည်။ သို့ရာတွင် ဧကန်မုချ ယင်းသူတို့အနက်မှ လူတစ်စုသည် အမှန်ကို (အမှန်ဟူ၍) သိရှိပါလျက်နှင့်ပင် ထိမ်ချန်ထားရှိကြလေသတည်း။

الْحَقُّ مِن رَّبِّكَ ۖ فَلَا تَكُونَنَّ
مِنَ الْمُمْتَرِينَ ﴿١٤٧﴾

**၁၄၇။** (အို- နဗီတမန်တော်) ဤ (ကစ်ဗ်လဟ်ပြောင်းလွှဲခြင်းနှင့် စပ်လျဉ်းသော) အမိန့်တော်သည် အသင့်ကိုမွေးမြူတော်မူသော အရှင်မြတ်၏အထံ တော်မှ ကျရောက်သည့် မှန်ကန်သော အမိန့်တော်ပင် ဖြစ်ချေသည်။ သို့ဖြစ်လေရာ အသင်သည် ဒွိဟ မကင်းသောသူတို့တွင် အပါအဝင်မဖြစ်ပါလေနှင့်။

وَلِكُلٍّ وِجْهَةٌ هُوَ مُوَلِّيهَا
فَاسْتَبِقُوا الْخَيْرَاتِ ۚ أَيْنَ
مَا تَكُونُوا يَأْتِ بِكُمُ اللَّهُ
جَمِيعًا ۚ إِنَّ اللَّهَ عَلَىٰ كُلِّ

**၁၄၈။** ထိုမှတပါး လူမျိုးအသီးသီးတို့၌ (မျက်နှာမူရာ)*အရပ်တခုကျစီရှိ၏။* [၁] ထို(လူမျိုးအသီးသီး)တို့သည် (ဝတ်ပြုရာ၌မိမိတို့ဘာသာတရားနှင့်အညီ) ထိုမျက်နှာမူရာဘက်သို့ မျက်နှာမူလေ့ရှိကြကုန်၏။ သို့ဖြစ်လေရာ အသင်တို့သည် ကုသိုလ်ကောင်းမှု ဆည်းပူးရာ၌ သူ့ထက်ငါသာအောင် (လုံ့လဝီရိယစိုက်ထုတ်ကာ)*အဆောတလျင်ပြုလုပ်ကြကုန်လော့။* [၂]

---

① "ဝစ်ဂျ်ဟတွန်" သဒ္ဒါသည် (က) မျက်နှာမူရာအရပ်၊ (ခ) ရည်မှန်းချက် အနက်ကိုဟောသည်။ ဆိုလိုသည်ကား လူမျိုးအသီးသီးတို့သည် ဝတ်ပြုရာ၌ မျက်နှာမူရာအရပ် တစ်ခုခုကိုသတ်မှတ်၍ ထိုအရပ်ဘက်သို့သာ မျက်နှာမူလေ့ရှိကြ၏။

② အစ္စလာမ်သာသနာအရ အရပ်မျက်နှာတဘက်ဘက်သို့ မျက်နှာမူခြင်းသည်သာ အဓိကမဟုတ်ပေ၊ ကုသိုလ်တရား ပွားများခြင်းသည်သာလျှင် အဓိကဖြစ်ပေသည်။ ကြည့်၊ ကုရ်အာန် (၂း၁၇၇)။ ထိုအကြောင်းကို ရှင်းလင်းစေရန်အလို့ငှာ ဤပါဒတွင်ပင် ကောင်းမှုကုသိုလ်များကို အဆောတလျင် လုပ်ကြရမည်ဟု မိန့်ဆိုနှိုးဆော်ထားတော်မူလေသည်။

شَيْءٍ قَدِيرٌ ﴿١٤٨﴾

အသင်တို့သည် မည်သည့်နေရာ၌မဆို ရှိကြအံ့၊ အလ္လာဟ်အရှင်မြတ်သည် အသင်တို့ အားလုံးတို့ကို (တဋ္ဌာနတည်း၌) စုရုံးတော်မူအံ့။ ^၁ မုချဧကန် အလ္လာဟ် အရှင်မြတ်သည် အရာခပ်သိမ်းတို့ အပေါ်ဝယ် စွမ်းဆောင်နိုင်တော်မူသော အရှင်မြတ် ပင် ဖြစ်တော်မူလေသတည်း။

وَمِنْ حَيْثُ خَرَجْتَ فَوَلِّ وَجْهَكَ شَطْرَ الْمَسْجِدِ الْحَرَامِ ۖ وَإِنَّهُ لَلْحَقُّ مِن رَّبِّكَ ۗ وَمَا اللَّهُ بِغَافِلٍ عَمَّا تَعْمَلُونَ ﴿١٤٩﴾

၁၄၉။ ထို့ပြင်တဝ (အို-နဗီတမန်တော်) အသင် သည် မည်သည့်နေရာဌာနမှမဆို (ခရီး) ထွက်အံ့၊ (ဝါ) မည်သည့်နေရာ၌မဆိုရှိနေအံ့၊ ဆွလာတ်ဝတ်ပြု ရာ၌ မိမိမျက်နှာကို (ထိုဌာနမှ) မတ်စ်ဂျိဒ္ဒေဟရာမ် ကျောင်းတော်ဘက်သို့သာလျှင်လှည့်ပါလေ။စင်စစ် သော်ကား မုချဧကန် ဤအမိန့်တော်သည် အသင့် အား မွေးမြူတော်မူသော အရှင်မြတ်၏အထံတော်မှ လုံးဝမှန်ကန်သော အမိန့်တော်ပင်ဖြစ်သည်။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ပြုလုပ်ကျင့်မူ ကြကုန်သော ကိစ္စရပ်များကို မေ့လျော့လျစ်လျူရှု တော်မူမည့်အရှင် မဟုတ်ပေ။

وَمِنْ حَيْثُ خَرَجْتَ فَوَلِّ وَجْهَكَ شَطْرَ الْمَسْجِدِ الْحَرَامِ ۚ وَحَيْثُ

၁၅၀။ တဖန် (အို-နဗီတမန်တော်) အသင်သည် မည်သည့်နေရာဌာနမှမဆို (ခရီး)ထွက်အံ့။ သို့(ခရီး) ထွက်ရာနေရာဌာနမှ (ဆွလာတ်ဝတ်ပြုရာ၌)ကအ်ဗဟ် ကျောင်းတော်ဘက်သို့သာလျှင် မျက်နှာမူပါလေ။

---

① ဤဝါကျကို အဋ္ဌကထာရှင်များသည် အောက်ပါအတိုင်း အမျိုးမျိုးအနက်ဖွင့်ကြသည်။ –

(က) အသင်တို့သည် အဘယ်အရပ်၌ပင် ရှိစေကာမူ အသင်တို့အားလုံးကို အလ္လာဟ်အရှင်မြတ်သည် သေစေတော်မူအံ့။

(ခ) အသင်တို့သည် အဘယ်အရပ်၌ပင် ရှိစေကာမူ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အားလုံးကို သေပြီးနောက် ရှင်ပြန်ထသည့်နေ့တွင် စုပေါင်းတော်မူအံ့။

(ဂ) အသင်တို့သည် အဘယ်အရပ်၌ပင် ရှိစေကာမူ အလ္လာဟ်အရှင်မြတ်သည် အသင်တို့၏ ဆွလာတ် ဝတ်ပြုခြင်းကို မျက်နှာမူရာ အရပ်တစ်ခုတည်းဘက်သို့ လှည့်တော်မူအံ့။

مَا كُنْتُمْ فَوَلُّوْا وُجُوْهَكُمْ شَطْرَهٗ لِئَلَّا يَكُوْنَ لِلنَّاسِ عَلَيْكُمْ حُجَّةٌ ۙ إِلَّا الَّذِيْنَ ظَلَمُوْا مِنْهُمْ ۙ فَلَا تَخْشَوْهُمْ وَاخْشَوْنِيْ ۙ وَلِأُتِمَّ نِعْمَتِيْ عَلَيْكُمْ وَلَعَلَّكُمْ تَهْتَدُوْنَ ﴿١٥﴾

တဖန်ပြကတော့ထိုနည်းအတိုင်း(အို–မွတ်စ်လင်မ် အပေါင်းတို့) အသင်တို့သည်လည်း မည်သည့် နေရာဌာနၶ္ခမဆို ရှိကြသည် ဖြစ်အံ့။ ဆွလာတ် ဝတ်ပြုရာ၌) ထို (ကအ်ဗဟ်ကျောင်းတော်) ဘက်သို့ သာလျှင် မျက်နှာမူကြကုန်လော့။ (ဤအမိန့်တော် ထုတ်ပြန်တော်မူခြင်းကား အသင်တို့အား အတိုက် အခံ ပြုကြကုန်သော) လူခပ်သိမ်းတို့ အဘို့ အသင်တို့နှင့် ဆန့်ကျင်၍ လျှောက်လဲချက် မရှိရန်အလို့ငှာ ဖြစ်သည်။ သို့ရာတွင် ယင်းသူတို့ အနက်မှ မတော်မတရားပြုမူသော သူတို့ကား (ဖွတ်မိုတ်၍ ဆင်ခြေလဲကြဦးမည် ဖြစ်သော်လည်း ၎င်းတို့၏ဆင်ခြေလဲခြင်းမှာဂရုပြုဘွယ်မဟုတ်ချေ။) သို့ဖြစ်ပေရာ အသင်တို့သည် ၎င်းတို့အား အလျင်း မကြောက်ရွံ့ကြဘဲ ငါ အရှင်မြတ် ကိုသာလျှင် ကြောက်ရွံ့ကြလေကုန်။ သို့မှသာလျှင် ငါအရှင်မြတ် သည် အသင်တို့အပေါ် မိမိကျေးဇူးတော်များကို ပြည့်စုံ စေတော်မူအံ့။ ထို့ပြင်တဝ အသင်တို့သည် ဥဇုမဂ္ဂ တည်းဟူသော ဖြောင့်မတ်မှန်ကန်သော တရားလမ်းကို ရရှိသူများလည်း ဖြစ်ကြအံ့။

كَمَآ أَرْسَلْنَا فِيْكُمْ رَسُوْلًا مِّنْكُمْ يَتْلُوْا عَلَيْكُمْ اٰيٰتِنَا وَيُزَكِّيْكُمْ وَيُعَلِّمُكُمُ الْكِتٰبَ وَالْحِكْمَةَ وَيُعَلِّمُكُمْ مَّا لَمْ تَكُوْنُوْا

၁၅၁။ (ငါအရှင်မြတ်သည် ကအ်ဗဟ် ကျောင်း တော်ကို ကစ်ဗ်လဟ်အဖြစ် သတ်မှတ်၍ ပေးတော် မူခြင်းမှာ) ငါအရှင်မြတ်သည် အသင်တို့ထံဝယ် အသင်တို့အနက်မှ ရစူလ်တမန်တော်တပါး စေလွှတ် တော်မူသကဲ့သို့ပင် ဖြစ်သည်၊ ထိုရစူလ်တမန်တော် သည် ငါအရှင်မြတ် (ပို့ချတော်မူသော) ဒေသနာများကို အသင်တို့ရှေ့ဝယ် ရွတ်ဘတ် သရဇ္ဈာယ်သည်။

تَعْلَمُونَ ﴿١٥١﴾

ထို့ပြင်တ၀ အသင်တို့(၏ စိတ်နှလုံးများ)ကို (အကုသိုလ်ဒုစရိုက်များမှ) သန့်စင်အောင် ပြုပေးသည်။ ထိုမျှမက အသင်တို့အား ကျမ်းဂန်နှင့် အသိ အလိမ္မာ အမြော်အမြင် တရားများကိုလည်း သင်ကြားပြသသည်၊ ထိုမှတပါး အသင်တို့ မသိ နားမလည်ခဲ့ကြသော အကြောင်းအရာအရပ်ရပ် တို့ကိုလည်း သင်ကြားပြသသည်။

فَاذْكُرُونِي أَذْكُرْكُمْ وَاشْكُرُوا لِي وَلَا تَكْفُرُونِ ﴿١٥٢﴾

၁၅၂။ သို့ဖြစ်လေရာ အသင်တို့သည် ငါအရှင်မြတ်ကို (ခ၀ပ်ကိုးကွယ်ခြင်းအားဖြင့်၎င်း၊ ငါအရှင်မြတ်၏အမိန့်တော်များကို ရိုသေစွာ လိုက်နာခြင်းအားဖြင့်၎င်း၊) အောက်မေ့တသ သတိရကြကုန်လော့၊ [၁] ငါအရှင်မြတ်သည်လည်း အသင်တို့အား (ကူညီစောင့်ရှောက်တော်မူခြင်းအားဖြင့်) သတိရတော်မူအံ့။ ထိုမှတပါး အသင်တို့သည် ငါအရှင်မြတ်၏ကျေးဇူးတော်ကို သိကြကုန်လော့၊ အသင်တို့သည် ငါအရှင်မြတ်အား ကျေးဇူးမကန်းကြကုန်လင့်။

---

(၁) အလ္လာဟ်အရှင်မြတ်ကို သတိရခြင်းသည် မည်သည့်အချိန်၌ မည်သည့်ဌာန၌ ဖြစ်ရမည်ဟူ၍ ပိုင်းခြားသတ်မှတ်ထားသည်မရှိ။ အချိန်မရွေး ဌာနမရွေး အလ္လာဟ်အရှင်မြတ်အား အောက်မေ့သတိရကြပေမည်။

အလ္လာဟ်အရှင်မြတ်အား သတိရခြင်းသည်အခြားမဟုတ်၊ အစစအရာရာကို ထိုအရှင်မြတ်၏ တရားဒေသနာတော်နှင့်အညီ ပြုကျင့်ခြင်းပင်တည်း။

အလ္လာဟ်အရှင်မြတ်၏ မိန့်ကြားတော်မူချက်ကို နဗီတမန်တော် မုဟမ္မဒ်(ဆွ)က အောက်ပါအတိုင်း တဆင့်ဟောတော်မူသည်။

ငါ(အလ္လာဟ်အရှင်မြတ်)သည် ငါ့အားငါ့အစေတော်က ထင်မြင်ယူဆသည့်အတိုင်းပင် ဖြစ်တော်မူ၏။ သူသည်ငါ့ကိုသတိရလျှင် ငါသည် သူနှင့်အတူတကွရှိတော်မူ၏။ သူသည်ငါ့ကို မိမိစိတ်၌သတိရလျှင် ငါသည်မိမိစိတ်၌ပင် သူ့ကိုသတိရတော်မူ၏။ သူသည်ငါ့ကို ပရိသတ်ရှေ့၌ တ,သ သတိရလျှင် ငါသည် ထိုပရိသတ်ထက် ကောင်းမြတ်သောပရိသတ်ရှေ့၌ သူ့ကိုသတိရတော်မူ၏၊ သူသည်ငါ့ထံ တထွာချဉ်းကပ်လျှင် ငါသည်သူ့ထံ တတောင်ချဉ်းကပ်တော်မူ၏။ သူသည်ငါ့ထံ တတောင်ချဉ်းကပ်လျှင် ငါသည်သူ့ထံ တလံချဉ်းကပ်တော်မူ၏။ သူသည်ငါ့ထံ ဖြည်းဖြည်းလာလျှင် ငါသည်သူ့ထံသို့ လျင်မြန်စွာကြွတော်မူ၏။

(ဗုခါရီ၊ မွတ်စ်လင်မ်၊ ဒုရ်ရိမန်သူရ်။)



يَا أَيُّهَا الَّذِينَ آمَنُوا اسْتَعِينُوا بِالصَّبْرِ وَالصَّلَاةِ ۚ إِنَّ اللَّهَ مَعَ الصَّابِرِينَ ﴿١٥٣﴾

၁၅၃။ အို- ယုံကြည်ခြင်းသဒ္ဓါတရား ထားရှိကြသူအပေါင်းတို့၊ သင်တို့သည် သည်းခံတရားထားခြင်းဖြင့်၎င်း၊ ဆွလာတ်ဝတ်ပြုခြင်းဖြင့်၎င်း၊ [၁] (အလ္လာဟ်အရှင်မြတ်၏အထံတော်မှ) ကူညီထောက်ပံ့ စောင်မတော်မူခြင်းကို ရယူကြကုန်လော့။ ဧကန်အမှန် *အလ္လာဟ်အရှင်မြတ်သည် ခန္တီတရားထားရှိသောသူတို့နှင့်အတူတကွ (အမြဲ) ရှိတော်မူလေသတည်း။* [၂]

وَلَا تَقُولُوا لِمَنْ يُقْتَلُ فِي سَبِيلِ اللَّهِ أَمْوَاتٌ ۚ بَلْ أَحْيَاءٌ وَلَٰكِنْ

၁၅၄။ ထို့ပြင်တ၀ (အို-မုအ်မင်န် အပေါင်းတို့) အသင်တို့သည် *အလ္လာဟ်အရှင်မြတ် လမ်းတော်၌ သတ်ဖြတ်ခြင်း ခံရသူတို့ကို သူသေများဟူ၍ မပြောဆိုကြကုန်လင့်။* [၃]

➤➤ အမြင့်မြတ်ဆုံးသော ဘာဝနာပွားများခြင်းသည် "လာအိလာဟ အစ်လ္လလ္လာဟ်" ဟုဆိုခြင်းဖြစ်၏။ အမြင့်မြတ်ဆုံးသော ကျေးဇူးတင်ခြင်းသည် "အလ်ဟမ်ဒုလစ်လ္လာဟ်"ဟု ဆိုခြင်းဖြစ်သည်။ (ဒုရ်ရိမန်သူရ်။)

အလ္လာဟ်အရှင်မြတ်အား အောက်မေ့ တသ သတိရခြင်းအားဖြင့် မွတ်စ်လင်မ်တို့၏ စိတ်နှလုံးများသည် နှစ်သိမ့်ကြည်နူးသည့်အကြောင်း ကုရ်အာန်(၁၃း၂၈)တွင် ပါရှိလေသည်။

(၁) ဆွလာတ်ဝတ်ပြုခြင်းသည် ဝတ်ပြုခြင်း အပေါင်းတို့၏အချုပ် မုအ်မင်န် သက်ဝင်ယုံကြည်သော သူတို့၏ "မိအ်ရာဂျ်"မည်၏။ စကြာဝဠာအပေါင်းတို့ကို မွေးမြူတော်မူသော အရှင်မြတ်ထံ တိုက်ဆိုက်စွာ အသနားခံခြင်းမည်၏။

(၂) ကုရ်အာန်ကျမ်းမြတ်(၅၇း၄)တွင် အလ္လာဟ်အရှင်မြတ်သည် သူငါခပ်သိမ်းနှင့်အတူတကွ နေရာဌာနတိုင်းတွင် ရှိတော်မူသည်ဟု မိန့်ဆိုထားတော်မူသည်။ ဤပါဒတွင်မူ အလ္လာဟ်အရှင်မြတ်သည် ခန္တီတရားထားရှိသူများနှင့် အတူတကွရှိတော်မူသည်ဟု မိန့်ဆိုထားလေသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် သူခပ်သိမ်းတို့ကို စောင်မကြည့်ရှုတော်မူ၏။ သို့ရာတွင် ခန္တီတရားရှိသူများကိုမူကား အထူးသဖြင့် စောင်မကြည့်ရှုတော်မူသည်ဟု ဆိုလိုသည်။

စကြာဝဠာအဝှန်းရှိ သက်ရှိသက်မဲ့အရာအားလုံးတို့ကို ဖန်ဆင်းတော်မူသော အလ္လာဟ်အရှင်မြတ်သည် မိမိအနန္တတန်ခိုးတော်ဖြင့် ရှိရှိသမျှသော သတ္တဝါအပေါင်းတို့အား ကြည့်ရှုစောင်မတော်မူသော အရှင်ဖြစ်တော်မူရကား ဒုက္ခသည်တဦးသည် ထိုအရှင်မြတ်အား အမှီသဟဲပြုထားပါမူ ထိုသူ၏ ကာယသုခ၊ စိတ္တသုခ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာမှုသည် မတွေးဆနိုင်လောက်အောင်ပင် ကြီးမားရင့်သန်လာပေမည်။

"ဥဟုဒ်" စစ်ပွဲတွင် ရန်သူတို့၏ တိုက်ခိုက်ခြင်းဒဏ်ကို အသေအလဲခုခံနေကြရသော နဗီတမန်တော်မုဟမ္မဒ်(ဆွ)နှင့် သာဝကကြီးများသည် အလ္လာဟ်အရှင်မြတ်၏ စောင်မကြည့်ရှုတော်မူခြင်းကို ရကြသည့်အခါ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်နေကြသည့် အချိန်မှာပင် စိုးရိမ်ကြောင့်ကြမှုမှ ကင်းလွတ်ပြီး ငိုက်မျည်း၍ လာကြလေသည်။ ကြည့်၊ ကုရ်အာန် ( ၃း၁၅၄၊ ၈း၁၁)။

لَا تَشْعُرُونَ ﴿١٥٤﴾

(ယင်း သူတို့သည် သူသေများ) အလျင်းမဟုတ်။ စင်စစ်မှာမူ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်၏ အထံတော်၌ *အသက်ရှင်လျက်ပင်ရှိကြလေသည်။* [၁] သို့ရာတွင် အသင်တို့သည် (ထိုအကြောင်းကို) တွေးဆဆင်ခြင် *မသိမမြင်နိုင်ကြချေ။* [၂]

---

⑨ **နိဒါနကထာ**

"ဗဒ်ရ" စစ်ပွဲတွင် "မုဟာဂျိရ်" များအနက်မှ သာ၀ကကြီး ၆ပါး၊ အန်ဆွာရီများအနက်မှ သာ၀ကကြီး ၈ပါး။ ပေါင်း ၁၄ပါးတို့သည် အလ္လာဟ် အရှင်မြတ်၏လမ်း၌ အသက်စွန့်သွားခဲ့ကြ၏။ ထိုကဲ့သို့ အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ အသက်စွန့်သွားခဲ့ကြသော သာ၀ကကြီးများနှင့်ပတ်သက်၍ အချို့သောသူများက မည်သူမည်၀ါတို့သည် သေပြီ၊ ထိုသူတို့သည် လောကီစည်းစိမ်မှ ကင်းကွာသွားချေပြီဟုလည်း ရှုတ်ချပြောဆိုကြသည်။

ဤအကြောင်းနှင့်စပ်လျဉ်း၍ အဆိုတရပ်ရှိသည်မှာ မိစ္ဆာဒိဋ္ဌိများနှင့် မွတ်စ်လင်မ် အသွင်ဆောင်သူများက "မွတ်စ်လင်မ်တို့သည် မုဟမ္မဒ်ကို နှစ်သိမ့်စေရန်အလို့ငှာ မိမိတို့ကိုယ်ကို မိမိတို့ပင် အကျိုးမဲ့ မတရားသတ်ဖြတ်ကြကုန်သည်" ဟု ကဲ့ရဲ့ပြစ်တင် ပြောဆိုကြသည်။ ယင်းသူတို့၏ ပြောဆိုခြင်းသည် မဟုတ်မမှန်ကြောင်း ထင်ရှားစေရန်အလို့ငှာ အလ္လာဟ်အရှင်မြတ်သည် ဤမုက္ခပါဌ်တော်ကို ထုတ်ပြန်ပို့ချတော်မူသည်။

ကြည့်-ခါဇင်နဲကျမ်း။

① အလ္လာဟ်အရှင်မြတ်၏လမ်းတော်တွင် အသက်စွန့်သွားကြကုန်သော အစ္စလာမ်သာသနာ့ အာဇာနည်တို့ကို "ရှဟီဒ်" များဟုခေါ်သည်။ ထိုအာဇာနည်သူရဲကောင်းတို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို ခံယူသွားကြလင့်ကစား၊ အခြားသူများကဲ့သို့ သူသေများမဟုတ်ကြချေ။ အမြဲတစေ အသက်နှင့်ပင် အရှင့်ထံတော်ပါး၌ ရှင်နေကြကုန်သည်။

(ထိုရှဟီဒ်) သာသနာ့သူရဲကောင်းများသည် ရှင်လျက်ရှိကြကုန်၏ ဟု မိန့်ဆိုထားခြင်း၏သဘောမှာ ယင်းသူရဲကောင်းများသည် အခွင့်အရေးအားဖြင့် ရှင်သူများကဲ့သို့ပင် ဖြစ်ကြကုန်၏။ ယင်းသူတို့ပြုကျင့်ခဲ့သော အကျင့်သီလများ၏ ကုသိုလ်အကျိုးသည်လည်း ပြတ်စဲသည်မရှိပေ။ ယင်းသူတို့သည် အလ္လာဟ်အရှင်မြတ်၏ သာသနာတော်ကို ကူညီစောင်မရန်အတွက် အသက်စွန့်သွားခဲ့ကြ၏။ သို့ဖြစ်လေရာ လောကတွင် သာသနာတော်တည်တံ့၍ အလ္လာဟ်အရှင်မြတ်၏ တရားလမ်းစဉ်၌ စစ်ရေးပြိုင်ဆိုင်တိုက်ခိုက်သော သူရဲကောင်းတဦးတယောက် ရှိနေသမျှကာလပတ်လုံး ထို(သာနာတော်တည်တံ့ခြင်း၏) ကုသိုလ်အကျိုးကို ထိုသာသနာ သူရဲကောင်းများလည်း ခံစားကြရမည်သာတည်း၊ အဘယ်ကြောင့်ဟူမူ ထိုသာသနာ့သူရဲကောင်းများကပင် သာသနာတော်အတွက် အသက်စွန့်ခြင်းတည်းဟူသော လမ်းစဉ်ကို စတင်ချမှတ်သွားကြသည့် အတွက်ကြောင့်တည်း။ (ရှုဟုလ်ဗယာန်။)

② သတ္တ၀ါများ ကွယ်လွန်သေဆုံးပြီးသည်အချိန်မှစ၍ ကုသိုလ်၊ အကုသိုလ်တရားများကို စောကြောခြင်းခံရန် အလို့ငှာ ပြန်လည်ရှင်ထသည့်နေ့အထိ ကြားကာလကို"အာလမုလ်ဗရ်ဇခ်" ဟုခေါ်သည်။ ထိုကြားကာလတွင် (ရှဟီဒ်) မွတ်စ်လင်မ်သူရဲကောင်းတို့၏ အခြေအနေ အဖြစ်မှန်ကို မည်သူမျှတွေးဆ၍မသိနိုင်ချေ။ ➤➤

وَلَنَبْلُوَنَّكُم بِشَيْءٍ مِّنَ الْخَوْفِ وَالْجُوعِ وَنَقْصٍ مِّنَ الْأَمْوَالِ وَالْأَنفُسِ وَالثَّمَرَاتِ ۗ وَبَشِّرِ الصَّابِرِينَ ﴿١٥٥﴾

**၁၅၅။** ထို့ပြင်တဝ (အို-မုအ်မင်န် အပေါင်းတို့) မချွတ်ကေန် ငါအရှင်မြတ်သည် အသင်တို့ကို တစ်စုံတစ်ခုသော ကြောက်ရွံ့ စိုးရိမ်စေခြင်းဖြင့်သော်ငင်း၊ ငတ်မွတ်စေခြင်း အားဖြင့်သော်ငင်း၊ ဥစ္စာပစ္စည်းများ ဆုံးပါးစေခြင်း ဖြင့်သော်ငင်း၊ အသက်သေကြေ ပျက်စီးစေခြင်း ဖြင့်သော်ငင်း၊ ကောက်ပဲသီးနှံများ ပျက်ပြားစေခြင်း ဖြင့်သော်ငင်း၊ [(တနည်း)သားသမီးများ သေဆုံးစေခြင်း ဖြင့်သော်ငင်း၊] စမ်းသပ်တော် မူလတ္တံ့။ [၁] သို့ရာတွင် (ထိုကဲ့သို့ စမ်းသပ်သော ဘေးအန္တရာယ်များကို) ခန္တီတရားဖြင့် သည်းခံသူအပေါင်းအား ဝမ်းမြောက်ဘွယ်ရာ ကောင်းချီးမင်္ဂလာသတင်းကို (အို-နဗီတမန်တော်မုဟမ္မဒ်) အသင်သည် ပြောကြားပါလေ။

الَّذِينَ إِذَا أَصَابَتْهُم مُّصِيبَةٌ قَالُوا إِنَّا لِلَّهِ وَإِنَّا إِلَيْهِ رَاجِعُونَ ﴿١٥٦﴾

**၁၅၆။** ထိုသူတို့သည် မိမိတို့အပေါ်၌ ဘေးဥပဒ် အန္တရာယ်တစုံတရာ ဆိုက်ရောက်လာသောအခါ ကေန်အမှန် အကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်၏ အဘို့အရာသာဖြစ်၍ မုချကေန် ထိုအရှင်မြတ်၏ အထံတော်သို့သာ ပြန်လည်သွားကြရမည့်သူများ ဖြစ်ကြပါသည်ဟု ဆိုလေ့ရှိကြကုန်၏။ [၂]

---

➤➤ ထို(အာလမုလ်ဗရ်ဇခ်)၏ အကြောင်းသည် လူသားတို့၏ဉာဏ်ဖြင့် သိနိုင်ရာသောကိစ္စမဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ (ဝဟီ) မုက္ခပါဌ်တော်ဖြင့်သာ သိနိုင်သည်။

ထို့အတွက်ကြောင့် အလ္လာဟ်အရှင်မြတ်က ဤပါဒတွင် "သို့ရာတွင် အသင်တို့သည် (ထိုသာသနာ့သူရဲကောင်းတို့၏ အကြောင်းကို မိမိတို့၏ သာမညဉာဏ်ဖြင့် တွေးဆမြော်မြင်၍) မသိနိုင်ကြချေ" ဟု အမိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

(၁) ကုရ်အာန်ကျမ်းမြတ် (၂း၁၅၅) တွင်ပါသော စိုးရိမ်ကြောင့်ကြစေခြင်း၏ သဘောမှာ အလ္လာဟ်အရှင်မြတ် (၏အမျက်)ကို ကြောက်ရွံ့ခြင်းကို ဆိုလိုသည်ဟူ၍ငင်း၊ မွတ်သိပ်ဆာလောင်စေခြင်း၏ သဘောမှာ ရမဇာန်လ၌ ဆွမ်ယာမ်ဥပုသ် ဆောက်တည်ခြင်းကို ဆိုလိုသည်ဟူ၍ငင်း၊ ဥစ္စာပစ္စည်း ပျက်စီးဆုံးပါးခြင်း၏ သဘောမှာ ဇကာတ်တရားဝင်ဒါနကြေး ပေးဆောင်ခြင်းနှင့် အလှူဒါနပြုခြင်းများကို ဆိုလိုသည်ဟူ၍ငင်း၊ အသက်သေကြေ ပျက်စီးစေခြင်း၏ သဘောမှာ ရောဂါဝေဒနာများကို ဆိုလိုသည်ဟူ၍ငင်း၊ ကောက်ပဲသီးနှံ ပျက်စီးစေခြင်း၏ ➤➤

أُولَٰٓئِكَ عَلَيۡهِمۡ صَلَوَٰتٞ مِّن رَّبِّهِمۡ وَرَحۡمَةٞۖ وَأُولَٰٓئِكَ هُمُ ٱلۡمُهۡتَدُونَ ١٥٧

၁၅၇။ ထို(ကဲ့သို့ စမ်းသပ်သော ဘေးအန္တရာယ်များကို ခန္တီတရားဖြင့်သည်းခံသော) ဤသူတို့အပေါ်၌သာလျှင် ယင်းသူတို့အားမွေးမြူတော်မူထသောအလ္လာဟ်အရှင်မြတ်အထံတော်မှ ကောင်းချီးမင်္ဂလာများနှင့် မေတ္တာကရုဏာတော် သက်ရောက်ပေမည်။ ၎င်းပြင် ထိုသူတို့သည်သာလျှင် ဖြောင့်မတ်မှန်ကန်သောတရားလမ်းစဉ်ကိုရရှိသူများ ဖြစ်ကြကုန်သတည်း။ ၁

---

➤➤ သဘောမှာ သားသမီးများ သေကြေပျက်စီးခြင်းကို ဆိုလိုသည်ဟူ၍ငင်း အေမာမ်ရာဖိအီထံမှ တဆင့်ကြားသိရပေသည်။

⑵ ဤမုက္ခပါဌ်တော် ( ၂:၁၅၆) သည် "ဗဒ်ရ်" စစ်မြေပြင်တွင် ပါဝင်ဆင်နွှဲကြကုန်သော နဗီတမန်တော်မုဟမ္မဒ်(ဆွ)၏ တပည့်သာဝကများနှင့် ပတ်သက်၍ ထုတ်ပြန်ပို့ချသော မုက္ခပါဌ်တော်ဖြစ်လင့်ကစားအလိုသဘောအားဖြင့် ခန္တီတရားဆောက်တည်သော မွတ်စ်လင်မ်တိုင်းနှင့် သက်ဆိုင်ပေသည်။

ဤမုက္ခပါဌ်တော်တွင် လူ့ဘဝဖြစ်အင်ကို အမှန်သိမြင်ကြကုန်သော ခန္တီပါရမီရှင် သာဝကကြီးများ၏အကျင့်စရိုက်များကို ဖော်ပြထားသည်။ သာဝကကြီးများသည် ဒုက္ခကြီးငယ်တို့နှင့် ရင်ဆိုင်ကြရသည့်အခါ၌ "ကေန်မုချ ကျွန်တော်မျိုးတို့သည် အလ္လာဟ်အရှင်မြတ်အဘို့သာဖြစ်၍ ထိုအရှင်မြတ်၏ထံတော်ပါးသို့ပြန်လည်ရောက်ရှိကြမည့် သူများသာ ဖြစ်ကြပေသတည်း:" ဟု ပြောဆိုလေ့ရှိကြသည်။

ဤမုက္ခပါဌ်တော်ကို လေးလေးနက်နက် စဉ်းစားဆင်ခြင်သည်ရှိသော် သက်ရှိသက်မဲ့ အရာခပ်သိမ်းတို့ကို အလ္လာဟ်အရှင်မြတ်သာလျှင် ပိုင်ဆိုင်တော်မူကြောင်း၊ သတ္တဝါအပေါင်းတို့သည် အလ္လာဟ်အရှင်မြတ်ထံတော်ပါးသို့ ပြန်လည် ရောက်ရှိကြမည်ဖြစ်ကြောင်း၊ ဤပစ္စုပ္ပန်လောက၌ ရှိရှိသမျှသော အရာခပ်သိမ်းတို့သည် အရိပ်ပမာ သင်္ခါရမျှသာဖြစ်ကြောင်းများကို ကောင်းစွာ သိရှိနိုင်ပေသည်။

ငါတည်းဟူသောမာနတရားများကို ရှေ့ထား၍ ခေတ္တခဏမျှရရှိထားသော ဥစ္စာပစ္စည်း သားသမီးတို့ကိုခင်တွယ်ပြီး သံယောဇဉ်ငြိကပ်လျက်ရှိကြသဖြင့် လူသားတို့မှာ ကာယဒုက္ခ၊ စိတ္တဒုက္ခ အမျိုးမျိုးကိုခံစားနေကြရခြင်းဖြစ်သည်။ အကယ်၍သာ လူသားတို့သည် ဤပစ္စုပ္ပန်ဘဝ၏ မတည်မြဲခြင်းကို သတိတရားဖြင့်ဆင်ခြင်ပါလျှင် ကာယသုခ၊ စိတ္တသုခ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာမှုကို မုချခံစား ကြရမည်မှာ အမှန်ပင်ဖြစ်သည်။

နဗီတမန်တော် မုဟမ္မဒ်(ဆွ)နှင့် သာဝကကြီးများသည် ဒုက္ခကြီးငယ်တွေ့ကြုံသည့်အခါတိုင်း၌ပင်ကုရ်အာန်ကျမ်းလာ အထက်ပါ မုက္ခပါဌ်တော်ကို မြွက်ဆိုလေ့ရှိကြသည်၊ ထို့အတူ ကျွန်ုပ်တို့သည်လည်းငါတည်းဟူသော မာနကိုစွန့်ပယ်၍ သက်ရောက်သမျှသော ဘေးဒုက္ခတို့သည် အလ္လာဟ်အရှင်မြတ်ထံမှစမ်းသပ်တော်မူခြင်းမျှသာ ဖြစ်သည်ဟု နှလုံးပိုက်ကာ ခန္တီတရားကို ဆောက်တည်ထားပါက လောကီ၊လောကုတ္တရာ နှစ်ဖြာသော အကျိုးများကို ခံစားကြရမည်မှာ မုချပင်တည်း။

① **ပါဒချင်းဆက်စပ်မှု**

ကုရ်အာန်ကျမ်းမြတ် (၂:၁၅၃)တွင် ခန္တီတရားထားရမည့်အကြောင်း (၂: ၁၅၄-၁၅၇) တွင်ခန္တီတရားထားကြကုန်သော သာသနာ့အာဇာနည် သူရဲကောင်းများအကြောင်း၊ သတ္တဝါများကိုဘေးဥပါဒ် ➤➤

➤➤ အန္တရာယ်အမျိုးမျိုးဖြင့် စမ်းသပ်တော် မူခြင်းအကြောင်း၊ ယင်းသူတော်သူမြတ်တို့ အပေါ်၌ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်နှင့် ကောင်းခြီးမင်္ဂလာများ သက်ရောက်ခြင်း အကြောင်းများကို ဘတ်ရှုကြားနာသူများ (အီမာန်)သဒ္ဓါတရား တိုးပွားနိုင်စိမ့်သောငှာ မိန့်ဆိုထားလေသည်။

ရှေ့လာမည့်ပါဒ (၂း၁၅၈)တွင် ဖော်ပြပါ ခန္တီတရားနှင့် ဆက်စပ်၍ ဆွဖာနှင့်မရ်ဝဟ် တောင်ပူစာ ၂ ခု အကြောင်းကို မိန့်ဆိုထားသည်။ ထိုတောင်ပူစာများသည် ခန္တီတရားထားခြင်းနှင့် မည်သို့ဆက်စပ်လျက် ရှိသည်ကို ရှင်းပြပါဦးအံ့။

နဗီတမန်တော် အီဗ်ရာဟီမ်(အ)သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ ကြင်ရာတော် ဟာဂျရာနှင့်သားတော် အစ္စမာအီလ်ကို လူသူမနီးသည့်နေရာတွင် ပစ်ထားခဲ့၏။ သို့ပစ်ထားပြီး တစုံတရာမျှ မှာကြားခြင်းမပြုဘဲ နဗီတမန်တော် အီဗ်ရာဟီမ်သည် ထွက်သွားခဲ့၏။

ထိုအခါ ကြင်ရာတော်ဟာဂျရာသည် နောက်မှလိုက်၍ အို-အမောင်၊ အမောင်သည် ယခုကျွန်မတို့ သားအမိ ၂ ဦး အား ဤနေရာတွင် ပစ်ထား၍အဘယ်ကို သွားတော့မည်နည်း၊ ဟု အကြိမ်ကြိမ်မေးရှာ၏။

အလ္လာဟ် အရှင်မြတ်၏ အလိုတော်ကို အရာခပ်သိမ်းထက် အထွတ်အမြတ်ထားသော သံယောဇဉ် လုံး၀ကင်းသော အလ္လာဟ် အရှင်မြတ်၏ အချစ်တော် နဗီတမန်တော် အီဗ်ရာဟီမ်သည် "မွတ်စ်လင်မ်" အစစ်ဖြစ်သည့်ဂုဏ်နှင့်အညီ အမိန့်တော်ကိုသာ အာရုံပြု၍ သနားစဖွယ်ကောင်းလှသော ကြင်ရာတော်၏ စကားများကိုပင် အလျင်း ဂရုမပြုခဲ့ချေ။

နောက်ဆုံးတွင် ကြင်ရာတော် ဟာဂျရာက "အမောင်အား အလ္လာဟ်အရှင်မြတ်က ဤသို့ပြုရန် မိန့်ဆိုတော်မူထားပါသလော" ဟု မေးရာ၊ တမန်တော် အီဗ်ရာဟီမ်(အ)က ဟုတ်ပါ၏၊ ဤအတိုင်း အမိန့်တော်ရှိပါသည်ဟု ပြန်လည်ဖြေကြားလေသည်။

အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အတိုင်းသာ ဖြစ်ကြောင်း ကြားသိသောအခါ ကြင်ရာတော် ဟာဂျရာက တည်ကြည်သောစိတ်ဖြင့် "သို့ဖြစ်လျှင် အလ္လာဟ်အရှင်မြတ်သည် ကျွန်မတို့ သားအမိ ၂ ဦးအား ပျက်စီးစေတော်မူမည်မဟုတ်" ဟု ပြောဆို၍ အရှင့်အမိန့်တော်ကို သဒ္ဓါကြည်ဖြူစွာဖြင့် ခန္တီတရားထားလျက် ဆိတ်ဆိတ်နေလေ၏။

သားအမိ ၂ ဦးတို့အား နဗီတမန်တော်အီဗ်ရာဟီမ်(အ) ပေးအပ်ခဲ့သော စားနပ်ရိက္ခာသည် ရေတဘူးနှင့် စွန်ပလွံသီးတအိတ်မျှသာဖြစ်ရာ ရက်အနည်းငယ်အတွင်းမှာပင် ကုန်ခန်းသွားလေသည်။ ထိုအခါတွင် ကြင်ရာတော်ဟာဂျရာသည် အသက်အရွယ်နုနယ်လှသော သားငယ်၏ ရေငတ်မွတ်ခြင်းဘေးကို တွေးမိကာ အနီးရှိ ဆွဖာနှင့်မရ်ဝဟ် တောင်ပူစာနှစ်ခုကြားတွင် ခုနစ်ကြိမ်တိုင်တိုင် ပြေးလွှား၍ ရေရှာခဲ့လေသည်။

ထိုကဲ့သို့ ဒုက္ခကြီးစွာ ခံစားနေကြရသော သားအမိ ၂ ဦးအား အလ္လာဟ်အရှင်မြတ်သည် မိမိ၏ မဟာကရုဏာဖြင့် ငတ်မွတ်ခြင်းဘေးမှ ကယ်တင်တော်မူ၍ ထိုသားအမိ ၂ ဦး၏ ဖြစ်အင်အတ္ထုပ္ပတ္တိကို အမှတ်ရစိမ့်သောငှာ ထိုတောင်ပူစာ ၂ ခုကိုပင် အစ္စလာမ်သာသနာတော်၏ အထိမ်းအမှတ်တရပ်အဖြစ် သတ်မှတ်ထားတော်မူလေသည်။

တနည်းဆိုသော် ဆွဖာနှင့်မရ်ဝဟ်တောင်ပူစာ ၂ ခုသည် ထိုအာဇာနည်မိသားတစုတို့၏ ခန္တီပါရမီ ဖြည့်ကျင့်ဆည်းပူးရာဌာနပင် ဖြစ်ချေသည်။

အဆိုပါအကြောင်းနှင့် ဆက်စပ်၍ ဤမုက္ခပါဌ်တော်တွင် ဟဂ်ျပြုခြင်း၊ အွန်မရဟ်ပြုခြင်း အကြောင်း များကိုလည်း မိန့်ဆိုထားတော်မူလေသည်။

إِنَّ الصَّفَا وَالْمَرْوَةَ مِن شَعَآئِرِ
اللّٰهِ فَمَنْ حَجَّ الْبَيْتَ أَوِ اعْتَمَرَ
فَلَا جُنَاحَ عَلَيْهِ أَن يَطَّوَّفَ
بِهِمَا وَمَن تَطَوَّعَ خَيْرًا
فَإِنَّ اللّٰهَ شَاكِرٌ عَلِيمٌ ﴿١٥٨﴾

၁၅၈။ ဧကန်အမှန် ဆွဖာနှင့်မရ်ဝဟ်တောင်များ [၁] သည် အလ္လာဟ်အရှင်မြတ် သတ်မှတ်ထားတော်မူ သော *သာသနာ့တော်၏အထိမ်းအမှတ်များ* [၂] အနက်မှ ဖြစ်သည်၊ အကြင်သူသည် အလ္လာဟ်အရှင်မြတ်၏ အိမ်တော်ဖြစ်သော ကအ်ဗဟ် ကျောင်းတော်သို့ *ဟဂျ်ပြုရန်* [၃] သွားရောက်သည်ဖြစ်စေ၊ သို့တည်း မဟုတ် *အွန်မ်ရဟ်* [၄] ပြုသည်ဖြစ်စေ ထိုသူ၏အပေါ်၌ *ထိုတောင် ၂လုံးအကြားတွင် သွားလာခြင်းသည်* [၅] *တစုံတရာမျှ အပြစ်မရှိပြီ။* [၆] ထို့ပြင် အကြင်သူသည် မိမိ၏စိတ်စေတနာအလျောက် တစုံတခုသောကုသိုလ် ကောင်းမှုကိုပြုလုပ်ပါမူ မုချဧကန် အလ္လာဟ်အရှင် မြတ်သည် ကျေးဇူးသိတော်မူ (၍ ရက်ရောစွာ ကောင်းကျိုးပေးသနားတော်မူ) သောအရှင်၊ အရာ ခပ်သိမ်းတို့ကို သိတော်မူသောအရှင် ဖြစ်တော်မူ လေသတည်း။

---

(၁) ဆွဖာနှင့်မရ်ဝဟ်သည် မက္ကာမြို့ရှိ ဗလီကျောင်းတော်ပါး၌ တည်ရှိသော တောင်ပူစာ ၂ ခု၏အမည် ဖြစ်သည်။ ဆွဖာသည် ကျောင်းတော်၏အရှေ့တောင်ဘက် ကိုက် ၁၀၀ ခန့်တွင်တည်ရှိ၏၊ မရ်ဝဟ်သည် ကျောင်းတော်၏အနောက်တောင်ဘက်၌ တည်ရှိ၏။

နှစ်စဉ်နှင့်အမျှကမ္ဘာ့အရပ်ရပ်မှ ဟဂျ်ပြုရန် မက္ကာမြို့တော်သို့လာကြကုန်သော ထောင်သောင်းမကသော ဟာဂျီများသည်ပဋိပတ်ကျင့်စဉ်တစ်ရပ်အဖြစ်ဖြင့် ထိုတောင်ကုန်း၂-ခု၏အကြားတွင် ခုနစ်ကြိမ် ပြေးလွှားကြရသည်။ ဤကဲ့သို့ ပြေးလွှားရခြင်း၏ သဘောမှာ နဗီတမန်တော် အစ္စမာအီလ်(အ)၏မယ်တော် ဟာဂျရာသည် မိမိသားငယ်ကလေးအတွက် ထိုတောင် ၂ ခုကြားတွင် ပြေးလွှား၍ ရေရှာရသည်ကို ဤကမ္ဘာကြီး တည်ရှိနေသမျှ ကာလပတ်လုံး မှတ်စ်လင်မ်တိုင်း အောက်မေ့တသသတိရ၍ ရာဇဝင်တည်ရှိနေရန် အလို့ငှာ ဖြစ်လေသည်။

(၂) ကုရ်အာန်ကျမ်းမြတ်တွင်ပါရှိသော "ရှအာအစ်ရ်" ၏အနက်သဘောမှာ ပရိသတ်နှင့် စုပေါင်းပြုလုပ်ရသော ဟဂျ်၏ ပဋိပတ်ကျင့်စဉ် များကိုသာဆိုသည်။ သို့ရာတွင် အချို့ ပညာရှင်များက အဇာန်ဆိုခြင်း၊ သော်ကြာနေ့ဝတ်ပြုခြင်း၊ အီဒ်ပွဲတော် ၂ ခု၏ ဆွလာတ်ဝတ်ပြုခြင်း ကဲ့သို့သော ပရိသတ်နှင့် စုရုံးပူးပေါင်း ဆောင်ရွက်ရသော သာသနာတော်၏ ကျင့်ဝတ်ကျင့်စဉ်များကိုလည်း သာသနာ့အထိမ်းအမှတ်များတွင် ထည့်သွင်းရေတွက်ကြသည်။

(၃) အစ္စလာမ်သာသနာ၏အခြေခံတရားငါးပါးတွင် ဟဂျ်ပြုခြင်းသည် တပါးအပါအဝင်ဖြစ်သည်။ မက္ကာမြို့တော်ရှိ အလ္လာဟ်အရှင်မြတ်၏ ကျောင်းတော်ကို သွားရောက်ဖူးမျှော်နိုင်ရန်အတွက် စရိတ်ကြေးငွေ တတ်ကုန်နိုင်၍ ➤➤

➤➤ အခြားလိုအပ်သော တာဝန်အရပ်ရပ်ကိုလည်း ဖြည့်စွမ်းနိုင်သော မွတ်စ်လင်မ် ယောကျ်ားမိန်းမများ အဘို့ မိမိတို့တသက်တာတွင် အနည်းဆုံးတကြိမ် ဟဂျ်ပြုရမည့် ဝတ်တရားသည် မလုပ်မနေရသော “ဖရည်ွ” တာဝန်တရပ်ဖြစ်ပေသည်။

ဟဂျ်ပြုရာတွင် ကမ္ဘာ့အရပ်ရပ်မှ မွတ်စ်လင်မ်များသည် မက္ကာမြို့တော်သို့ ဆိုက်ရောက်လာကြပြီး တူညီသော ရည်ရွယ်ချက်၊ တမျိုးတစားတည်းသော အဝတ်အစားတို့ဖြင့် တူညီသောကျင့်စဉ်များကို တညီတညွတ်တည်း ဆောင်ရွက်ကြပေရာ ဟဂျ်ပြုခြင်းကို ကမ္ဘာ့မွတ်စ်လင်မ် သာသနာ့ကုလသမဂ္ဂ ဟု တနည်းခေါ်ဆိုနိုင်ပေမည်။

ဟဂျ်ပြုပုံနည်းနိသျည်းမှာ စိတ်ဝင်စားဘွယ်ကောင်းလှ၏၊ သို့ရာတွင် ကျမ်းလေးမည်စိုးသဖြင့် ချန်လှပ်ခဲ့ပါသည်၊ သုတေသီများ အကျယ်သိလိုပါက “ဟိဒါယဟ်” အစရှိသည့် ဓမ္မသတ်ကျမ်းများ၌ ရှုပါကုန်။

⑨ “အွန်မ်ရဟ်” သည် ဟဂျ်အငယ်စားပင် ဖြစ်သည်။ ခြားနားချက်မှာ အွန်မ်ရဟ်ပြုရာတွင် ဟဂျ်ပြုရန်ကဲ့သို့ အချိန်ကာ သတ်မှတ်ထားသည်မရှိချေ။ အချိန်မရွေးပြုနိုင်ခွင့် ရှိသည်။ အွန်မ်ရဟ်ပြုခြင်းသည် ဖရည်ွမဟုတ်၊ စွန္နတ်မုအက္ကဒဟ်ဖြစ်သည်။ စွန္နတ်မုအက္ကဒဟ်ဟူသည် နဗီတမန်တော် မုဟမ္မဒ်(ဆွ) အမြဲတစေပြုမူလေ့ရှိသော သာသနာ့ကျင့်စဉ်ကို ဆိုလိုသည်။

**အွန်မ်ရဟ်ပြုနည်း**

အွန်မ်ရဟ်ပြုလိုသူတစ်ဦးသည် ဦးစွာပဌမ ကျောင်းတော် ပရဝုဏ်အပြင်မှ အွန်မ်ရဟ်ပြုရန် (နိယတ်)ရည်စူးရ၏။ ထို့နောက် “ဣဟ်ရာမ်” ခေါ်ဝတ်ဖြူစင်ကြယ်ကို ရုံ၍ ကျောင်းတော်ကိုလှည့်ပတ်ရ၏။ ဆွဖာနှင့် မရ်ဝဟ်တောင်ကုန်း၂ခုကြားပြေးလွှားရ၏။ ထို့နောက် ဆံပယ်၍ ဣဟ်ရာမ်ခေါ် ဝတ်ဖြူစင်ကြယ်ကို ချွတ်လိုက်ရ၏။ ဤကား အွန်မ်ရဟ်ပြုနည်းတည်း။

⑩ “တဝွောင်ဖ်”၏ မူရင်းအဓိပ္ပါယ်မှာ လှည့်ပတ်သွားလာခြင်း ဖြစ်သော်လည်း ဤပါဒ၌ ယင်းပုဒ်၏ အနက်သဘောမှာ ဆွဖာနှင့် မရ်ဝဟ်တောင်ပူစာ၂ခုကြား ကျင့်ဝတ်တရပ်အနေနှင့် ပြေးလွှားခြင်းကို ဆိုလိုသည်။

⑥ ဆွဖာနှင့်မရ်ဝဟ်တောင်ကုန်းများသည် နဗီတမန်တော် အီဗ်ရာဟီမ်(အ)၏ ကြင်ရာတော် ဟာဂျရာနှင့် သားတော် အစ္စမာအီလ်တို့၏ ရာဇဝင်အထိမ်းအမှတ်ဖြစ်၏။

အစ္စလာမ်သာသနာတော် မထွန်းကားမီ အမိုက်ခေတ်တွင် အရဗ်မိစ္ဆာဒိဋ္ဌိတို့သည် ထိုတောင်ကုန်း ၂ခုပေါ်တွင် “ဣစာဖ်” နှင့် “နာအိလဟ်” အမည်ရှိသော ရုပ်ဆင်းတုများကို ထားရှိကြ၏။ ထိုတောင်ပူစာ ၂ခုကြားတွင် ပြေးလွှားကြ၍ ထိုဆင်းတုများကို နမ်းရှုပ်ကြ၏။ ဆည်းကပ်ကိုးကွယ်ကြ၏။

အစ္စလာမ်သာသနာ ထွန်းကားလာသောအခါ ရုပ်ပွားဆင်းတုရှိနေသော ထိုတောင်ပူစာ ၂ခုကြားတွင် (စအီ)ခေါ် ပြေးလွှားခြင်းပြုသင့် မပြုသင့် ပြဿနာပေါ်ပေါက်လာခဲ့လေသည်။ ထိုအခါ တောင်ဟီဒ်တရားကို လိုက်နာကြကုန်သော သာဝကကြီးများသည် ဤကဲ့သို့ ရုပ်ပွားဆင်းတုများ ထားရှိခဲ့ဘူးသည့် တောင်ပူစာ ၂ခုကြားတွင် ကျင့်စဉ်ကျင့်ဝတ်များ ပြုသင့်ပါ၏လောဟု ဒွိဟသံသယ ဖြစ်လာခဲ့ကြ၏။ ထို့ပြင်တဝ မိစ္ဆာဒိဋ္ဌိတို့က မွတ်စ်လင်မ်များသည် အစ္စလာမ်ဘာသာအယူဝါဒကို လက်ခံနာယူကြပါသည်ဟု ဆိုကြလင့်ကစား ယခုထက်တိုင် ငါတို့၏ ထုံးတမ်းစဉ်လာများကို လိုက်နာလျက်ပင် ရှိကြသေးသည်ဟု ကဲ့ရဲ့ပြစ်တင် စကားပြောကြမည်ကိုလည်း စိုးရိမ်မကင်းဖြစ်နေကြ၏။

ဖော်ပြပါအတိုင်း သာဝကကြီးများ၏ သံသယနှင့် စိုးရိမ်မကင်းဖြစ်မှုကို ပပျောက်စေရန် ➤➤

إِنَّ ٱلَّذِينَ يَكْتُمُونَ مَآ أَنزَلْنَا مِنَ ٱلْبَيِّنَٰتِ وَٱلْهُدَىٰ مِنۢ بَعْدِ مَا بَيَّنَّٰهُ لِلنَّاسِ فِى ٱلْكِتَٰبِ ۙ أُو۟لَٰٓئِكَ يَلْعَنُهُمُ ٱللَّهُ وَيَلْعَنُهُمُ ٱللَّٰعِنُونَ ١٥٩

**၁၅၉။** မုချဧကန် အကြင်သူတို့သည် ငါအရှင် ချပေးသနားတော်မူသော ထင်ရှားစွာသော အမိန့်တော်များနှင့် *တရားဓမ္မများကို ထိမ်ချန်ကြကုန်၏၊*[၁] (ယင်းသို့ ထိမ်ချန်ခြင်းမှာလည်း) ငါအရှင်မြတ်သည် ထို အမိန့် တော်များနှင့် တရား ဓမ္မများကို (တောင်ရာတ်၊အင်န်ဂျီလ်) ကျမ်းများ၌ လူအများ (သိနားလည်ရန်) အတို့ ရှင်းလင်းစွာ ဖော်ပြပြီးသည့် နောက်မှပင် ဖြစ်သည်။ ထိုသို့သော သူတို့အား အလ္လာဟ်အရှင်မြတ်သည် ကရုဏာတော်မှ ကင်းဝေးစေတော်မူသည်။ ၎င်းပြင် ကျိန်ဆဲသူများကလည်း ထိုသူတို့ကို ကျိန်ဆဲကြလေသည်။

---

➤➤ အလို့ငှာ ကုရ်အာန်ကျမ်းလာ ဤပါဒတွင် ထိုတောင်ပူစာ ၂ခုကြားတွင် ပြေးလွှားမှု ကျင့်ဝတ်ကျင့်စဉ်သည် အစ္စလာမ်သာသနာတော်၏ အထိမ်းအမှတ်တစ်ရပ်ဖြစ်သည့်အတွက် အပြစ်မရှိသည့်အပြင် ကုသိုလ်အကျိုးခံစားရန် အကြောင်းပင်ဖြစ်သည်ဟု အလ္လာဟ်အရှင်မြတ်က ထင်ရှားစွာ မိန့်ကြားတော်မူထားခြင်းဖြစ်သည်။

(၁) ကျမ်းလာစကားများကို မဖုံးမကွယ် ဟောကြားရမည့်အကြောင်းနှင့် စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်သည် အတိတ်ခေတ် ကျမ်းဂန်ရရှိသူတို့နှင့် ပဋိညာဉ်ဖွဲ့ထားတော်မူသည်။ ကြည့်-ကုရ်အာန် (၃း၁၈၇)။

သို့ပါလျက်နှင့်ပင် ထိုကျမ်းရလူမျိုးဖြစ်သော ယဟူဒီနှင့်ခရစ်ယာန်တို့သည် ဒေသနာတော်များကို ထိမ်ချန်ထားကြသည်သာမက အနည်းငယ်မျှသော အဘိုးအခနှင့်ပင် ရောင်းစားကြလေသည်။ ကြည့်-(၂း၁၇၄၊ ၃း၇၀၊ ၃း၁၈၇)

အလ္လာဟ်အရှင်မြတ်သည် မိမိမုကဒ္ဒပါဌ်တော်များကို အကြောင်းအရာ အတ္ထုပ္ပတ္တိတရပ်ရပ်နှင့် ပတ်သက်၍အခါကာလနှင့် လျော်ညီစွာ ထုတ်ပြန်ပို့ချတော်မူသည်သာတည်း။ ယင်းသို့ အကြောင်းတရပ်ရပ်နှင့် စပ်လျဉ်း၍အထူးတလည် ထုတ်ပြန်ပို့ချတော်မူသော်လည်း ထိုမုကဒ္ဒပါဌ်တော်တွင်ပါရှိသော အမိန့်ဒေသနာ တရားဓမ္မတို့သည် ထိုအကြောင်းတခုတည်းနှင့်သာလျှင် သက်ဆိုင်သည်မဟုတ်၊ အကျိုးတူအကြောင်းတူ အားလုံးနှင့်သက်ဆိုင်ပေသည်။

ဥပမာဆိုရသော် ဖော်ပြပါမုကဒ္ဒပါဌ်တော် (၂း၁၅၉)တွင် ယဟူဒီ၊ ခရစ်ယာန်ဘာသာ ကျမ်းတတ်ပုဂ္ဂိုလ်များသည် ကိုယ်ကျိုးကို ရှေ့ရှု၍မိမိတို့ ကျမ်းလာစကားများကို တစုံတရာဟောပြောခြင်းမရှိဘဲ ထိမ်ချန်လျှို့ဝှက်ထားကြသည့်အတွက် အလ္လာဟ်အရှင်မြတ်၏ ကျိန်ဆဲတော်မူခြင်းကိုပင် ခံကြရသည့်အကြောင်း မိန့်ဆိုထားသည်။ သို့ပင်တစေ ထိုအမိန့်တော်သည် ထိုယဟူဒီ၊ ခရစ်ယာန်ဘာသာ ကျမ်းတတ်ပုဂ္ဂိုလ်များနှင့်သာလျှင် သက်ဆိုင်သည်ဟု မယူအပ်ပေ။ အလ္လာဟ်အရှင်မြတ်ထံမှ ကျရောက်လာသော ကျမ်းလာစကားများကို မည်သည့်ပုဂ္ဂိုလ်မဆို ထိန်ချန်လျှို့ဝှက်ထားလျှင် အထက်အဆိုပါ ယဟူဒီ၊ ခရစ်ယာန်ကျမ်းတတ် ပုဂ္ဂိုလ်များကဲ့သို့ပင် အရှင်မြတ်၏ကျိန်ဆဲတော်မူခြင်းကို ခံကြရမည်မှာ မလွဲဧကန်ပင်တည်း။

إِلَّا الَّذِينَ تَابُوا وَأَصْلَحُوا وَبَيَّنُوا فَأُولَٰئِكَ أَتُوبُ عَلَيْهِمْ ۚ وَأَنَا التَّوَّابُ الرَّحِيمُ ﴿١٦٠﴾

၁၆၀။ သို့ရာတွင် အကြင်သူတို့သည် (မိမိတို့၏ ချွတ်ယွင်းမှုများကို) ဝန်ချတောင်းပန်ကြအံ့၊ ၎င်းပြင် မိမိတို့၏ အကျင့် စာရိတ္တများကို ပြုပြင်ပြောင်းလွဲပြီး ကုသိုလ်တရား ပွားများကြကုန်အံ့၊ ၎င်းပြင် (ကျမ်းလာ အမိန့်ပညတ်များကိုလည်း မှန်ကန်စွာ) ထုတ်ဖော် ထင်ရှားစေကြကုန်အံ့။ သို့ဖြစ်လျှင် ငါ အရှင်မြတ်သည် ထိုသူတို့ ဘက်သို့ (မိမိ ကရုဏာတော်ဖြင့်) ပြန်လှည့်တော်မူအံ့။ စင်စစ် တမူကား ငါအရှင်မြတ်သည် (ဝန်ချတောင်းပန်သူများဘက်သို့) အကြိမ်ကြိမ် အဖန်ဖန် ပြန်လှည့်တော်မူထသောအရှင်၊ မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူထသောအရှင်မြတ် ဖြစ်တော်မူ၏။

إِنَّ الَّذِينَ كَفَرُوا وَمَاتُوا وَهُمْ كُفَّارٌ أُولَٰئِكَ عَلَيْهِمْ لَعْنَةُ اللَّهِ وَالْمَلَائِكَةِ وَالنَّاسِ أَجْمَعِينَ ﴿١٦١﴾

၁၆၁။ ဧကန်အမှန် အကြင်သူတို့သည် တရားဒေသနာတော်များကို မယုံမကြည်သွေဖည်ငြင်းဆန်၍ ကာဖစ်ရ်အဖြစ်နှင့်ပင်သေဆုံးကြ၏။ ယင်းသူတို့အပေါ်၌ အလ္လာဟ်အရှင်မြတ်၏ ကျိန်ဆဲခြင်း၊ အပါးတော်စေတမန်များ (၏ ကျိန်ဆဲခြင်း၊) လူများ (၏ ကျိန်ဆဲခြင်း၊) အားလုံးတို့ (၏ ကျိန်ဆဲခြင်းသည် ကျရောက်အံ့။)

خَالِدِينَ فِيهَا ۖ لَا يُخَفَّفُ عَنْهُمُ الْعَذَابُ وَلَا هُمْ يُنظَرُونَ ﴿١٦٢﴾

၁၆၂။ (ယင်းသူတို့သည်) ထို(ကျိန်ဆဲခြင်း)၌ အမြဲတစေ နေကြရမည့်သူများဖြစ်ကြ၏။ ၎င်းတို့ထံမှ အပြစ်ဒဏ်သည် ပေါ့ပါးသွားမည်လည်းမဟုတ်၊ ၎င်းပြင် ယင်းသူတို့သည် အပြစ်ဒဏ်စီရင်ခြင်းကို ဆိုင်းငံ့ခွင့်လည်း ရရှိကြမည်မဟုတ်ချေ။[၁]

---

(၁) **ပါဒချင်းဆက်စပ်မှု**

ပြီးစီးခဲ့သောအပိုဒ်၁၈၏ အဆုံးတွင်တဆူတည်းသော အလ္လာဟ်အရှင်မြတ်အား တသရမည့်အကြောင်း၊ အရှင်မြတ်၏ ကျေးဇူးများကို သိရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

ဤအပိုဒ်၁၉တွင် အရှင်မြတ်၏ ကျေးဇူးတော်ကိုသိ၍ ထိုအရှင်မြတ်၏ တရားဒေသနာ ▶▶

وَإِلَٰهُكُمْ إِلَٰهٌ وَاحِدٌ ۖ لَّا إِلَٰهَ إِلَّا هُوَ الرَّحْمَٰنُ الرَّحِيمُ ﴿١٦٣﴾

၁၆၃။ စင်စစ်အားဖြင့် တဆူတည်းဖြစ်တော်မူသော ခဝပ်ကိုးကွယ်ရာ အရှင်သည်သာလျှင် အသင်တို့၏ ကိုးကွယ်ရာအရှင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်မှ တပါး အခြားကိုးကွယ်ရာ အရှင်ဟူ၍ အလျင်းမရှိချေ။ ထိုအရှင်မြတ်သည် အနန္တကရုဏာတော်ရှင်၊ အလွန် သနားကြင်နာတော်မူသောအရှင် ဖြစ်တော်မူ၏။

إِنَّ فِي خَلْقِ السَّمَاوَاتِ وَالْأَرْضِ وَاخْتِلَافِ اللَّيْلِ وَالنَّهَارِ وَالْفُلْكِ الَّتِي تَجْرِي فِي الْبَحْرِ بِمَا يَنفَعُ النَّاسَ وَمَا أَنزَلَ اللَّهُ مِنَ السَّمَاءِ مِن مَّاءٍ فَأَحْيَا بِهِ الْأَرْضَ بَعْدَ مَوْتِهَا وَبَثَّ فِيهَا مِن كُلِّ دَابَّةٍ وَتَصْرِيفِ الرِّيَاحِ وَالسَّحَابِ الْمُسَخَّرِ بَيْنَ

၁၆၄။ မိုးကောင်းကင် များနှင့် ပထဝီမြေပြင်ကို ဖန်ဆင်းတော်မူခြင်း၌ လည်းကောင်း၊ နေ့နှင့်ညဉ့် ပြောင်းလွဲသွားလာခြင်း၌ လည်းကောင်း၊ လူသား တို့အား အကျိုးဖြစ်ထွန်းစေသော ဝတ္ထုပစ္စည်းများကို တင်ဆောင်၍ ပင်လယ် သမုဒ္ဒရာများတွင် စုံဆန် သွားလာနေသော ရေယာဉ်များ၌ လည်းကောင်း၊ မြေသေမြေဟောင်း မြေသရောင်းကို ပြန်လည်ရှင်စေ ပြီး (မြေသြဇာဖြစ်စေ၍ သစ်ပင်ဝါးပင် အမျိုးမျိုး ပေါက်ရောက်စေရန် အလို့ငှာ) မိုးကောင်းကင်မှ အလ္လာဟ်အရှင်မြတ် ရွာသွန်းစေတော်မူသော မိုးရေ ၌လည်းကောင်း၊ ထိုမြေပြင်၌ (အလ္လာဟ်အရှင်မြတ်) ပေါက်ပွားပျံ့နှံ့စေတော်မူသော တိရစ္ဆာန်အမျိုးမျိုး၌ လည်းကောင်း၊ လေများကို တိုက်ခတ်စေတော်မူခြင်း၌ လည်းကောင်း၊

---

➤➤ တော်များကို သက်စွန့်ကြိုးပမ်း လိုက်နာဆောင်ရွက်ကြကုန်သော သာသနာ့အာဇာနည်များအကြောင်းနှင့် အရှင်မြတ်၏ ကျေးဇူးတော်များကို မသိတတ်သော၊ တရားဒေသနာတော်များကို ထိမ်ချန်ထားလေ့ရှိသော သူများ၏အကြောင်းကို ယှဉ်တွဲ၍ မိန့်ဆိုထားတော်မူသည်။

ထို့နောက်အဆုံးတွင် အစ္စလာမ်သာသနာတော်၏အဓိကဖြစ်သော "တောင်ဟီဒ်" ခေါ်တဆူတည်းသော အလ္လာဟ်အရှင်မြတ်ကိုသာ ခဝပ်ကိုးကွယ်ရမည့်တရားကို ပွင့်လင်းစွာ မိန့်ဆိုထားတော်မူလေသည်။

အစ္စလာမ်သာသနာသည် "တောင်ဟီဒ်" အပေါ်၌ တည်ရှိပေရာ ထို"တောင်ဟီဒ်" တရားကို လက်မခံသည်နှင့်အမျှအခြား ကုသိုလ်တရားများကို ပွားများခြင်းသည် အချည်းနှီးပင်ဖြစ်ပေသည်။

السَّمَآءِ وَالْاَرْضِ لَاٰيٰتٍ لِّقَوْمٍ يَّعْقِلُوْنَ ﴿١٦٤﴾

မိုးနှင့်မြေကြားဝယ် (အလ္လာဟ် အရှင်မြတ်၏အမိန့်တော်ကို) နာခံလျှက်ရှိသော မိုးတိမ်များ၌လည်းကောင်း၊ နိသမ္မဉာဏ်အရင်းခံ၍ စဉ်းစားဆင်ခြင် သိမြင်နားလည် ကြကုန်သော လူများအဘို့မှုချကေန် (တဆူတည်းဖြစ်တော်မူသော အလ္လာဟ် အရှင်မြတ်၏ တန်ခိုးတော် ဉာဏ်တော် ကရုဏာတော်များကို ညွှန်ပြသော) သက်သေ လက္ခဏာများ ရှိပေသတည်း။ [၁]

وَمِنَ النَّاسِ مَنْ يَّتَّخِذُ مِنْ دُوْنِ اللّٰهِ اَنْدَادًا يُّحِبُّوْنَهُمْ

**၁၆၅။** သို့ရာတွင် လူသားတို့အနက်မှ အချို့တို့သည် အလ္လာဟ်အရှင်မြတ်နှင့်ပြိုင်ဆိုင်၍ (မိမိတို့၏) *ဦးစီးနာယကများကို* [၂] ကိုးကွယ်ကြလေသည်၊

(၁) စကြာဝဠာကြီးကို စတင်ဖန်ဆင်းတော်မူသောအရှင်သည် တစ်ပါးသာဖြစ်ရပေမည်၊ နှစ်ပါးမဖြစ်နိုင်ချေ။ အကြောင်းကား စတင်ဖန်ဆင်းတော်မူသော အရှင်နှစ်ပါးဖြစ်လျှင် တချိန်သော်အရာတခုကိုဖန်ဆင်းရာတွင် ထိုအရှင်နှစ်ပါးသည် သဘောကွဲလွဲပေမည်၊ အချင်းပွားပေမည်။ နောက်ဆုံးတွင် စကြာဝဠာကြီးသည် ပျက်စီးသွားပေမည်။ ဘုရင်နှစ်ပါး တပြိုင်တည်းအုပ်စိုးသော တိုင်းပြည်ဟူ၍ မရှိနိုင်သကဲ့သို့ပင်တည်း။

စကြာဝဠာကြီးကိုမြင်ပြီး ထိုစကြာဝဠာကြီးကို ဖန်ဆင်းတော်မူသော အရှင်အား တွေးဆသိမြင်ရမည့်အကြောင်း ကုရ်အာန်ကျမ်းမြတ်၌ မြောက်များစွာသော မုက္ခပါဌ်တော်များတွင် မိန့်ဆိုထားတော်မူသည်။ သတိမမှု ဂူမမြင်ဆိုသကဲ့သို့ စကြာဝဠာကြီးကို တွေ့မြင်နေပါလျက် ထိုစကြာဝဠာကြီးကို ဖန်ဆင်းတော်မူသောအရှင်အား မတွေးမမြင်ပါလျှင် မတွေးမမြင်သူ၏ အပြစ်သာဖြစ်၏။

ကုရ်အာန်ကျမ်းလာ ဤမုက္ခပါဌ်တော် (၂း၁၆၄) ကို တွေးတောဆင်ခြင် သုံးသပ်ရမည့်အကြောင်းနှင့် စပ်လျဉ်း၍ နဗီတမန်တော် မုဟမ္မဒ်(ဆွ)က အောက်ပါအတိုင်း မိန့်ကြားတော်မူခဲ့လေသည်။

အကြင်သူသည် ကုရ်အာန်ကျမ်းလာ ဤမုက္ခပါဌ်တော် (၂း၁၆၄)ကို ရွတ်ဘတ်သရဇ္ဈာယ်ပြီး ထိုမုက္ခပါဌ်တော်၏သဘောကို မတွေးတောမဆင်ခြင်အံ့၊ ထိုသူသည် ပျက်စီးဆုံးရှုံးအံ့။

**ဆက်စပ်မှု**

ကုရ်အာန်ကျမ်းလာမုက္ခပါဌ်တော် (၂း၁၆၃-၁၆၄)တွင် တဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ရမည့် အကြောင်းနှင့် ထိုအရှင်မြတ်၏တန်ခိုးတော်၊ ဉာဏ်တော်၊ ကရုဏာတော်များကို မိန့်ဆိုဖော်ပြထားသည်။

ယခု ဤမုက္ခပါဌ်တော် (၂း၁၆၅)တွင်မူ အလ္လာဟ်အရှင်မြတ်အပြင် အခြားကိုးကွယ်ရာများကို ယှဉ်တွဲကိုးကွယ်သော မိဿာဒိဋ္ဌိများအကြောင်းနှင့် တဆူတည်းသော အလ္လာဟ်အရှင်မြတ်အား တစိတ်တလက်တည်း ယုံကြည်ကိုးကွယ်သော မုအ်မင်န်တို့၏ အကြောင်းကို ဒွန်တွဲ၍ မိန့်ဆိုထားတော်မူလေသည်။

يُحِبُّ اللّٰهِ ۖ وَالَّذِيْنَ اٰمَنُوْٓا اَشَدُّ حُبًّا لِّلّٰهِ ۗ وَلَوْ يَرَى الَّذِيْنَ ظَلَمُوْٓا اِذْ يَرَوْنَ الْعَذَابَ ۙ اَنَّ الْقُوَّةَ لِلّٰهِ جَمِيْعًا ۙ وَّاَنَّ اللّٰهَ شَدِيْدُ الْعَذَابِ ﴿١٦٥﴾

ယင်းသူတို့သည် အလ္လာဟ် အရှင်မြတ်အား ချစ်ကြည် မြတ်နိုးဘိ သကဲ့သို့ပင် မိမိတို့၏ ဦးစီးနာယကများကို ချစ်ကြည်မြတ်နိုးကြကုန်၏။ [၁] သို့ရာတွင် ယုံကြည်ခြင်း သဒ္ဒါတရား ရှိကြသူတို့မှာမူ အလ္လာဟ် အရှင်မြတ်ကိုသာလျှင် အလွန်ထက်သန်သော (ယုံကြည်ခြင်း သဒ္ဒါတရားဖြင့်) ချစ်ကြည်မြတ်နိုး (ကိုးကွယ်) ကြလေသတည်း။ (တဆူတည်းသော အလ္လာဟ် အရှင်မြတ်ကိုသာ ကိုးကွယ်ရမည်ဟူသော ဒေသနာတော်ကို) ကျူးလွန်သူတို့သည် (နောင်တမလွန်ဘဝ၌) အပြစ်ငရဲများကို မျက်ဝါးထင်ထင် တွေ့မြင်ကြသည့်အခါ အလုံးစုံသော တန်ခိုးအာဏာ တို့သည် အလ္လာဟ် အရှင်မြတ်၌သာလျှင် တည်ရှိ ကြောင်း၊ အလ္လာဟ် အရှင်မြတ်သည် ပြင်းထန်သော ပြစ်ဒဏ်များကို စီရင်တော်မူသော အရှင်ဖြစ်ကြောင်းကို သိရှိကြလိမ့်မည်။ အကယ်၍သာ ထို ကျူးလွန်သူတို့သည် (မိမိတို့ကိုယ်တိုင်တွေ့ကြုံရမည့် နောင်ရေးများကို) ဤဘဝ၌ပင် ကြိုတင်၍ သိမြင်ထားကြပါမူ ကောင်းလေစွတကား။

---

(၂) "အန်ဒါဒန်" ဟူသော ပုဒ်၏သဘောကို ဖော်ရာတွင် အဋ္ဌကထာရှင်များသည် အောက်ပါအတိုင်း အဆိုပြားလျက်ရှိ၏။

က။ ရုပ်ပွါးဆင်းတုများ။

ခ။ (ကာဖစ်ရ်တို့၏) ဦးစီးနာယကများ။

ဂ။ အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်သည်ကို တားမြစ်သောအရာများ။

ရှင်ပြန်ထမည့်နေ့တွင် ကာဖစ်ရ်တို့တွင် ရှေ့ဆောင်ရှေ့ရပ်ဖြစ်ခဲ့ဘူးသော အကြီးအကဲများသည် မိမိတို့၏ တပည့်နောက်လိုက်တို့အား စိမ်းကားစွာ စွန့်ခွာသွားကြမည်ဟူသော ကုရ်အာန် (၂:၁၆၆)ကို ဆင်ခြင်သည်ရှိသော် အထက်အဆိုသုံးရပ်အနက် ဒုတိယအဆိုသည် ပိုမိုသင့်မြတ်လှပေသည်။

(၁) ကုရ်အာန်(၂:၁၆၅)၏ သဘောမှာ အလ္လာဟ်အရှင်မြတ်အပြင် မည်သည့်အရာကိုမျှ ချစ်ကြည်မြတ်နိုးခြင်း မပြုရဟုမဆိုလိုပေ၊ မိဘဆရာသမားဆွေမျိုးညာတိ၊ မိတ်သင်္ဂဟနှင့် သူမွန်သူမြတ်တို့ကို ချစ်ကြည်မြတ်နိုးရပေမည်။ ဤကား ကျမ်းဂန်ပညတ်တည်း။

တားမြစ်ထားသော ချစ်ကြည်မြတ်နိုးမှုမှာကား အလ္လာဟ်အရှင်မြတ်အား ချစ်ကြည်မြတ်နိုး ➢➢

إِذْ تَبَرَّأَ الَّذِينَ اتُّبِعُوا مِنَ الَّذِينَ اتَّبَعُوا وَرَأَوُا الْعَذَابَ وَتَقَطَّعَتْ بِهِمُ الْأَسْبَابُ ﴿١٦٦﴾

**၁၆၆။** အကြင်အချိန်အခါဝယ် (လူအပေါင်းတို့ကို လှည့်ဖြားသွေးဆောင် ကြကုန်သော) ခေါင်းဆောင်တို့သည် မိမိတို့၏ တပည့်နောက်လိုက် တို့အား စွန့်ပစ်ကြကုန်အံ့၊ ထိုအခါ ယင်းခေါင်းဆောင်များနှင့် နောက်လိုက် တပည့်တို့သည် ပြစ်ဒဏ်များကို (မျက်ဝါးထင်ထင်) ရှုမြင်ကြအံ့၊ (၎င်းပြင်) ယင်းသူတို့၌ တဦးနှင့်တဦး ဆက်သွယ်မှု များသည်လည်း ပြတ်တောက်သွားလတ္တံ့။

وَقَالَ الَّذِينَ اتَّبَعُوا لَوْ أَنَّ لَنَا كَرَّةً فَنَتَبَرَّأَ مِنْهُمْ كَمَا تَبَرَّءُوا مِنَّا ۗ كَذَٰلِكَ يُرِيهِمُ اللَّهُ أَعْمَالَهُمْ حَسَرَاتٍ عَلَيْهِمْ ۖ وَمَا هُمْ بِخَارِجِينَ مِنَ النَّارِ ﴿١٦٧﴾

**၁၆၇။** ၎င်းပြင် (မသမာသော ဦးစီးနာယကများ၏ လှည့်ပတ်ဖြားယောင်းရာနောက်သို့ လိုက်ပါမိခဲ့သော) နောက်လိုက်တပည့်များက အကယ်၍သာ ငါတို့သည် (လူ့လောကသို့) တကြိမ်မျှပြင်ပြန်ကြရပါလျှင် အလွန်ကောင်းပေအံ့၊ သို့ပြန်ရပါလျှင် ထိုရှေ့ဆောင်ရှေ့ရပ်တို့သည် ငါတို့ကို (ယခုစိမ်းကားစွာ) စွန့်ပစ်သွားကြသကဲ့သို့ ငါတို့သည်လည်း ယင်းသူတို့အား (စိမ်းကားစွာ) စွန့်ပစ်ကြမည်ဟု ပြောဆိုကြမည်။ အလ္လာဟ်အရှင်မြတ်သည် ထိုရှေ့ဆောင်ရှေ့ရပ်များနှင့် တပည့်နောက်လိုက် အားလုံးတို့အား အပြစ်ငရဲကို မျက်ဝါးထင်ထင် ပြတော်မူသကဲ့သို့ပင် ယင်းသူတို့၏အပြုအမူများကို ဝမ်းနည်းကြေကွဲဘွယ်ရာများအဖြစ် ပြတော်မူမည်။ စင်စစ်အားဖြင့် ယင်းသူတို့သည် ငရဲမီးတွင်းမှ ထွက်ကြရမည့်သူများလည်း မဟုတ်ကြချေ။

➤➤ ခြင်းကဲ့သို့ အခြားအရာများကို ချစ်ကြည်မြတ်နိုးခြင်းကိုသာ ဆိုလိုသည်။

အစ္စလာမ် တရားတော်အရ "ဝလီ" များကိုထားဘိဦး၊ အလ္လာဟ်အရှင်မြတ်၏ နဗီတမန်တော်များကိုပင်လျှင် ကိုးကွယ်ရာအရှင်အဖြစ် ချစ်ကြည်မြတ်နိုးခြင်း အလျင်းမပြုအပ်ချေ။ ဤအရာ၌ အစ္စလာမ်တရားတော်သည် မည်သည့်ခြွင်းချက်ကိုမျှ လက်မခံသည့်အတွက်ကြောင့် ကမ္ဘာပေါ်ရှိ သာသနာများအနက် အစ္စလာမ် သာသနာတော်ကို (Unconpromisingly Monothiastic Religion) ဟု ခေါ်ဆိုထားပေသည်။

يَٰٓأَيُّهَا ٱلنَّاسُ كُلُوا۟ مِمَّا فِى ٱلْأَرْضِ حَلَٰلًا طَيِّبًا وَلَا تَتَّبِعُوا۟ خُطُوَٰتِ ٱلشَّيْطَٰنِ ۚ إِنَّهُۥ لَكُمْ عَدُوٌّ مُّبِينٌ ﴿١٦٨﴾

**၁၆၈။** အို-လူသားအပေါင်းတို့၊ အသင်တို့သည် ကမ္ဘာမြေပေါ်ဝယ် ရှိလေသော အရာများ အနက်မှ *စားသုံးပိုင်ခွင့်ပြုထားသော* [၁] သန့်စင်သောအရာများကို စားသုံးကြကုန်လော့၊ သို့ရာတွင် အသင်တို့သည် ရှိုင်တွာန်၏ခြေရာများကို (ဖဝါးခြေထပ်) မလိုက်ကြကုန်လင့်။ [၂] အမှန်စင်စစ် ယင်းရှိုင်တွာန်သည် အသင်တို့၏ ပွင့်လင်းထင်ရှားလှစွာသော ရန်သူရန်ဘက်ပင် ဖြစ်ချေသည်။

---

(၁) ဟလာလ်ဟူသည် အစ္စလာမ်သာသနာက စားသုံးပိုင်ခွင့် ပြုထားသောအစာ အာဟာရကိုဆိုလိုသည်။

(၂) ဤမုက္ခပါဌ်တော်တွင် ကောင်းမြတ်သော အစာအာဟာရများကို စားသုံးမှီဝဲကြဟု ပညတ်တော်မူသည့် အမိန့်တော်နှင့်တွဲလျက် ရှိုင်တွာန်၏စကားကို မနာခံကြကုန်လင့် ဟု မိန့်ဆိုထားခြင်း၏သဘောမှာ အို-လူသားတို့၊ အသင်တို့သည် ကောင်းမြတ်သော အစာအာဟာရများကို စားသုံး၍ ကောင်းမြတ်သော ကိုယ်ကျင့်တရားများကို စောင့်စည်းကုန်လော့ဟူလို။

ရှိုင်တွာန်၏စကားကို မနာခံကြကုန်လင့်ဟု မိန့်ဆိုထားတော်မူခြင်း၏ အကြောင်းကို ကုရ်အာန် (၂:၁၆၉)တွင် ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။

"ရှိုင်တွာန်" ကား အခြားမဟုတ်။ ကမ္ဘာဦး ဘခင်အာဒမ်(အ)နှင့် ကြင်ရာတော်ဟောင်ဝါသခင်မတို့အား ဂျန္နတ်အမတသုခဘုံမှ ထွက်ခွာသွားကြရသည်အထိ ဖန်တီးခဲ့သူပင်ဖြစ်၏။ ကြည့်-ကုရ်အာန် (၂:၃၆၊ ၇:၂၀-၂၅)

ကမ္ဘာဦးဘခင်အား ဦးချကန်တော့ရန် အမိန့်တော်ကို သွေဖည်သဖြင့် ပြစ်ဒဏ်တော်ခတ်ခြင်းခံရသော ထိုရှိုင်တွာန်သည် အခဲမကြေဖြစ်ပြီး ရန်တုံ့ပြန်လိုသောသဘောဖြင့် လူသားတို့အား အမှားမှားအယွင်းယွင်းဖြစ်စေရန် ရှင်ပြန်ထရမည့်နေ့အထိ လွတ်လပ်ခွင့်ပြုပါမည့်အကြောင်း အလ္လာဟ်အရှင်မြတ် အထံတော်၌ ဆုပန်ခဲ့သည်။ ကြည့်-ကုရ်အာန်(၃၈:၇၉-၈၃)။

ရှိုင်တွာန်သည် လူသားတို့အား နည်းပရိယာယ်မာယာအမျိုးမျိုးတို့ဖြင့် ဒုစရိုက်မှုများပြုလုပ်ရန် တိုက်တွန်းသည်။ ကြည့်-ကုရ်အာန် (၄:၁၁၉)။ ရှိုင်တွာန်သည် လူသားတို့အချင်းချင်း မုန်းတီးမှုကို လိုလားသည်။ ကြည့်- ကုရ်အာန် (၅:၅၁)။

ဖော်ပြပါ အကြောင်းများကြောင့် ကုရ်အာန်(၃၆:၆၀)တွင် အသင်တို့သည် ရှိုင်တွာန်ကို မကိုးကွယ်ကြကုန်လင့်ဟူ၍၎င်း၊ (၇:၂၇)တွင် ရှိုင်တွာန်၏ဖြားယောင်းခြင်းကို မခံကြကုန်လင့်ဟူ၍၎င်း၊ (၂၄:၂၁)တွင် အသင်တို့သည် ရှိုင်တွာန်၏နောက်သို့ ဖဝါးခြေထပ်မလိုက်ကြကုန်လင့်ဟူ၍၎င်း အလ္လာဟ်အရှင်မြတ်သည် မိမိ၏ မဟာကရုဏာတော်ဖြင့် လူသားတို့အား အကြိမ်ကြိမ်သတိပေး နှိုးဆော်ထားတော်မူသည်။ ဤမျှမကသေး ရှိုင်တွာန်၏နှောင့်ယှက်ခြင်းမှ ကင်းလွတ်နိုင်ရန်အတွက် အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်၏ ၁၁၄ခုမြောက် ကဏ္ဍဖြစ်သော "မနုဿလူသားများကဏ္ဍ" ကိုလည်းထုတ်ပြန်ပို့ချထားတော်မူလေသည်၊

إِنَّمَا يَأْمُرُكُم بِالسُّوٓءِ وَالْفَحْشَآءِ وَأَن تَقُولُوا عَلَى اللَّهِ مَا لَا تَعْلَمُونَ ﴿١٦٩﴾

၁၆၉။ (အကြောင်းကား) ထိုရှိင်တွာန်သည် အသင်တို့ကို မကောင်းမှုဒုစရိုက်များကိုငှင်း၊ အလွန်ညစ်ညမ်းသော ကိစ္စများကိုငှင်း၊ ထို့ပြင် အသင်တို့သည် မိမိတို့ မသိရှိကြသော အကြောင်းအရာများကို အလ္လာဟ် အရှင်မြတ်နှင့် ဆန့်ကျင်၍ (လုပ်ကြံ) ပြောဆိုကြရန်ငှင်း အမိန့်ပေးတိုက်တွန်း နှိုးဆော်သည်သာဖြစ်သည်။ ၁

وَإِذَا قِيلَ لَهُمُ اتَّبِعُوا مَآ أَنزَلَ اللَّهُ قَالُوا بَلْ نَتَّبِعُ مَآ أَلْفَيْنَا عَلَيْهِ ءَابَآءَنَآ ۗ أَوَلَوْ كَانَ ءَابَآؤُهُمْ لَا يَعْقِلُونَ شَيْـًٔا وَلَا يَهْتَدُونَ ﴿١٧٠﴾

၁၇၀။ ၎င်းပြင် (အမြော်အမြင်မရှိသော) ထိုသူတို့ကို တဦးတယောက်က (ဟယ်-အချင်းတို့) အသင်တို့သည် အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ် ပေးသနားတော်မူသော တရားဒေသနာများကို လိုက်နာကြပါကုန်ဟု ပြောဆိုပါလျှင် ယင်းသူတို့က ပြောဆိုကြသည်မှာ ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာကား အကြင်တရားလမ်းစဉ်ပေါ်၌ အကျွန်ုပ်တို့သည် မိမိတို့၏ ဘိုး၊ဘေး၊ဘီ၊ဘင်များကိုတွေ့ရ၏။ ထိုတရားလမ်းစဉ်ကိုသာလျှင် ကျွန်ုပ်တို့သည် လိုက်နာကြအံ့ ဟု တုံ့ပြန်ပြောဆိုကြကုန်သည်။ ၂

(၁) အတိတ်ခေတ်ရှိ ယဟူဒီ ဘာသာဝင်များ၊ ခရစ်ယာန် ဘာသာဝင်များနှင့် အရဗ် မိစ္ဆာဒိဋ္ဌိတို့သည် နဗီတမန်တော် အီဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)၏ သာသနာတော်ကို စွန့်လွှတ်၍ အထူးသဖြင့် စားရေးသောက်ရေးများတွင် အဘယ်အရာကား စားသုံးပိုင်သည်၊ အဘယ်အရာကား မစားသုံးပိုင်စသည်ဖြင့် မိမိတို့ အာသာဆန္ဒအလျောက် ပညတ်လျက်ရှိကြ၏။ ၎င်းတို့သည် သာသနာရေးတွင် ဤကဲ့သို့ ကပြောင်းကပြန်ပြုလုပ်ကြသည် သာမက မိမိတို့၏ ပြုမူခြင်းများသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ ဖြစ်သည်ဟူ၍ပင် လိမ်လည် ပြောဆိုကြကုန်သည်။ ဤအမိန့်တော်တွင် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ မသင့်မတော် မလျော်ကန်သော အပြောအဆို၊ အသုံးအနှုန်း၊ အပြုအမူ၊ အယူအဆ အားလုံးတို့သည် အကျုံးဝင်သည်။
(မဒါရစ်က်။)

ဥပမာ၊ အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲ၍ အခြားသောအရာများကို ဂုဏ်ရည်တူများဟု ယူဆခြင်း ကိုးကွယ်ခြင်း၊ စားသုံးပိုင်ခွင့်မရှိသောအရာများကို စားသုံးပိုင်သောအရာများအဖြစ် ပြုလုပ်ခြင်း၊ စားသုံးပိုင်သောအရာများကို မစားသုံးပိုင်သောအရာများဟူ၍ ပြုလုပ်ခြင်း၊ ဤကဲ့သို့ ပြုမူခြင်းသည် အလ္လာဟ်အရှင်မြတ်အား လိမ်လည်စွပ်စွဲပြောဆိုခြင်းပင်ဖြစ်၏။

၎င်းတို့၏ ဘိုး၊ ဘေး၊ ဘီ၊ ဘင်တို့သည် တစုံတရာကိုမျှ မဆင်ခြင်နိုင်ကြသည့်ပြင်၊ တရားလမ်းမှန်ကို မရရှိကြသော်လည်း (၎င်းတို့သည် ထိုသို့သော ဘိုး၊ ဘေးတို့၏ လမ်းစဉ်ကိုပင် လိုက်နာကြမည်လော)။

**၁၇၁**။ "ကာဖစ်ရ်" မိစ္ဆာဒိဋ္ဌိတို့(အား သွန်သင်ဆုံးမသူ)၏ပမာကား ခေါ်သံနှင့်ဟစ်အော်ကြွေးကြော်သံမှတပါး အဘယ်တစုံတခုကိုမျှ မကြားသောတိရစ္ဆာန်များကို ဟစ်အော်ဆုံးမသူနှင့်တူချေသည်။ [၁] (အမှန်သော်ကား ထိုမိစ္ဆာဒိဋ္ဌိတို့သည် တရားဒေသနာတော်ကိုမနာခံသော) နားပင်းသူများ၊ (မှန်သောစကားကို မပြောဆိုသော) ဆွံ့အသူများ၊ (သက်သေလက္ခဏာတော်များကိုမမြင်သော) အကန်းများပင်တည်း။ သို့ဖြစ်လေရာ ယင်းသူတို့သည် မည်သည့်အရာ တစုံတခုကိုမျှ တွေးတောဆင်ခြင် သိမြင်သူများမဟုတ်ကြချေ။

وَمَثَلُ الَّذِينَ كَفَرُوا كَمَثَلِ الَّذِي يَنْعِقُ بِمَا لَا يَسْمَعُ إِلَّا دُعَاءً وَنِدَاءً صُمٌّ بُكْمٌ عُمْيٌ فَهُمْ لَا يَعْقِلُونَ ﴿١٧١﴾

---

(၂) အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ပို့ချတော်မူသော မှန်ကန်သော တရားဒေသနာတော်များကို လိုက်နာရမည့်အကြောင်း ပြောဆိုသည့်အခါတွင် အမြော်အမြင်မရှိသော မိစ္ဆာဒိဋ္ဌိတို့က ကျွန်ုပ်တို့သည် မိမိတို့၏ ဘိုး၊ ဘေး၊ ဘီ၊ ဘင်တို့၏ မိရိုးဖလာ လမ်းစဉ်များကိုသာ လိုက်နာကြပါ၏ဟု ပြန်လည် ဖြေကြားကြလေသည်။ ဤမုက္ခပါဌ်တော်တွင် ပုဂ္ဂိုလ်စွဲ ကြည်ညိုမှုကိုငှင်း၊ ဂိုဏ်းဂဏ သံယောဇဉ်တွဲဘက်ခြင်းကိုငှင်း၊ မိရိုးဖလာ ထုံးတမ်းစဉ်လာကိုငှင်း တားမြစ်ထားတော်မူလေသည်။

(၁) ဤပုံဆောင်ချက်တွင် တရားဓမ္မဟောကြားညွှန်ပြသော နဗီတမန်တော်နှင့် မိရိုးဖလာထုံးတမ်းစဉ်လာကို စုံမှိတ်၍ လိုက်နာသောမိစ္ဆာဒိဋ္ဌိတို့၏ ဖြစ်အင်ကို ဖော်ပြထားတော်မူသည်။

မိစ္ဆာဒိဋ္ဌိတို့သည် တိရစ္ဆာန်နှင့် တူချေသည်။ အကြောင်းကား တိရစ္ဆာန်များသည် ဟစ်အော်ကြွေးကြော်သူ၏ ကြွေးကြော်သံကိုကြားနိုင်၏။ သို့သော် ထိုကြွေးကြော်သံ၏ အနက်အဓိပ္ပါယ်ကိုကားမသိချေ။ ထို့အတူ မိစ္ဆာဒိဋ္ဌိများသည်လည်း နဗီတမန်တော်၏ တရားစကားများကို ကြားကြ၏။ သို့ရာတွင် တရားဓမ္မ၏ အဓိပ္ပါယ်ကိုကား အလျှင်းနားမလည်ကြချေ။

စိတ်နှလုံးများရှိပါလျက် မှန်ကန်သောတရားလမ်းစဉ်ကို မတွေးတောသောသူများ၊ မျက်စိများရှိပါလျက် သက်သေလက္ခဏာတော်များကို မမြင်သောသူများ၊ နားများရှိပါလျက် တရားစကားကို မကြားသောသူများသည် တိရစ္ဆာန်များထက်ပင် မိုက်မဲသူများဖြစ်ချေသည်၊ ကြည့်၊ကုရ်အာန်(၇း၁၇၉)။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ كُلُوا۟ مِن طَيِّبَٰتِ مَا رَزَقْنَٰكُمْ وَٱشْكُرُوا۟ لِلَّهِ إِن كُنتُمْ إِيَّاهُ تَعْبُدُونَ ﴿١٧٢﴾

**၁၇၂။** အို- "မုအ်မင်န်" ယုံကြည်သူအပေါင်းတို့. အသင်တို့.အား ငါအရှင်မြတ် ပေးသနားတော်မူသော ကောင်းမွန်သန့်ပြန့်သော အာဟာရများအနက်မှ အသင်တို့.သည် (ကြိုက်နှစ်သက်ရာကို) စားသုံးကြကုန်။ ၎င်းအပြင် အကယ်၍ အသင်တို့.သည် ထို အရှင်မြတ် အားသာလျှင် ခဝပ်ကိုးကွယ်ကြပါလျှင် အသင်တို့.သည် အလ္လာဟ်အရှင်မြတ်အား ကျေးဇူးတင်ကြကုန်။

إِنَّمَا حَرَّمَ عَلَيْكُمُ ٱلْمَيْتَةَ وَٱلدَّمَ وَلَحْمَ ٱلْخِنزِيرِ وَمَآ أُهِلَّ بِهِۦ لِغَيْرِ ٱللَّهِ ۖ فَمَنِ ٱضْطُرَّ غَيْرَ بَاغٍ وَلَا عَادٍ

**၁၇၃။** အလ္လာဟ် အရှင်မြတ်သည် အသင်တို့.အပေါ်၌ *အသေကောင်များကိုင၎်း၊* [၁] (ယိုစီးသော) သွေးကိုင၎်း၊ [၂] *ဝက်၏အသားကိုင၎်း၊* [၃] အလ္လာဟ်အရှင်မြတ်၏နာမံတော်မှတပါး *အခြားကိုးကွယ်ရာများ၏ အမည်နာမများကို တ,သပြီး လှီးဖြတ်ထားသော တိရစ္ဆာန်များကိုင၎်း၊* [၄] မုချ တားမြစ်ထားတော်မူလေသည်။

(၁) အစ္စလာမ်သာသနာမထွန်းကားမီ အမိုက်ခေတ်တွင် ယဟူဒီဘာသာဝင်များ၊ ခရစ်ယာန်ဘာသာဝင်များနှင့် အရဗ်မိစ္ဆာဒိဋ္ဌိတို့က "ငါတို့.သည် နဗီတမန်တော် အီဗ်ရာဟီမ်(အ)၏ သာသနာဝင်များဖြစ်ကြသည်" ဟု ဝါကြွားပြောဆိုကြကုန်၏။ အမှန်သော်ကား ယင်းသူတို့.သည် နဗီတမန်တော် အီဗ်ရာဟီမ်(အ)၏ သာသနာရေးဆိုင်ရာ ပဋိပတ်ကျင့်စဉ်များကို မိမိတို့ အာသာဆန္ဒအလျောက် နှုတ်ပယ်ဖြည့်စွက်လျက် ဤအရာကား စားသုံးအပ်၏။ ဤအရာကား မစားသုံးအပ်ဟု မဟုတ်မလျား အမှားမှားအယွင်းယွင်း ပညတ်လျက်ရှိကြကုန်၏။ ကြည့်၊ ကုရ်အာန် (၃း၉၃၊ ၆း၁၃၉-၁၄၀-၁၄၄၊ ၁၄၅၊ ၁၅၁။ ၁၆း၁၁၆)။

ဖော်ပြပါအတိုင်း သာသနာဖျက်တို့.သည် စားရေးသောက်ရေးများတွင် အမှားမှားအယွင်းယွင်း ပြုလုပ်ထားကြ သည့်အတွက် စားသုံးအပ်သော အရာနှင့် မစားသုံးအပ်သော အရာများကို ပိုင်းခြား၍ သိမြင်နိုင်ရန် အလို့ငှာ အလ္လာဟ်အရှင်မြတ်သည် ဤမုကဒ္ဒပါဌ်တော်တွင် (၁)အသေကောင်၊ (၂)သွေး၊ (၃)ဝက်တိရစ္ဆာန်ကောင်၏အသား၊ (၄)အလ္လာဟ်အရှင်မြတ်၏နာမံတော်မှတပါး အခြားအရာများကို ရည်စူး၍ သတ်ဖြတ်ထားသော တိရစ္ဆာန်တို့.၏အသားကို အလျင်းမစားအပ်ဟု ပညတ်ထားတော်မူသည်။

**မှတ်ချက်။** ။ ဤမုကဒ္ဒပါဌ်တော်တွင် မစားအပ်ဟု ပညတ်ထားသော ပစ္စည်း ၄ ရပ်သည်သာလျှင် မစားအပ်သော ပစ္စည်းများ မဟုတ်သေးချေ။ အစ္စလာမ်သာသနာတွင် အခြားပညတ်ထားသောအရာများ မြောက်မြားစွာ ရှိသေးသည် ကိုလည်း အထူးသတိပြုအပ်၏။ ကျမ်းလေးမည်စိုး၍ မရေးပြီ၊ အကျယ်ကိုသိလိုပါက သက်ဆိုင်ရာ "ဖစ်ကှဟ်" ဓမ္မသတ်ကျမ်းများတွင် ရှုပါကုန်။ 

➤➤ **အသေသားကို မစားအပ်**

အသေကောင်ဟူသည် အစ္စလာမ်တရားတော်နှင့်အညီ“ဇဗ်ဟ်” ပြုရန်တာဝန်ရှိသော တိရစ္ဆာန်များအနက် “ဇဗ်ဟ်” ပြုလုပ်ထားခြင်းမရှိဘဲ အလိုအလျောက်သေသွားသော တိရစ္ဆာန်များတည်း။ (မဒါရစ်က်)

**မှတ်ချက်။**

တမန်တော်မြတ်၏ ဟဒီဆ်သြဝါဒတော်အရ ငါးသေနှင့်ကျိုင်းကောင်သေကိုကား စားသုံးပိုင်ခွင့်ရှိသည်။

(၂) သွေးဟုဆိုရာ၌ ယိုစီးသောသွေးကို ဆိုလိုသည်။ (မအာလင်မ်။)

ကုရ်အာန်ကျမ်းမြတ် ဤမုက္ခပါဠ်တော်(၂း၁၇၃)တွင် သွေးကို အထူးဝိသေသပုဒ်မထည့်ဘဲ မိန့်ဆိုထားလင့်ကစား ကုရ်အာန်(၆း၁၄၅)တွင်မူ ယိုစီးသောသွေးဟူသော ဝိသေသပုဒ်ဖြင့် ဖွင့်ဟမိန့်ဆိုထားသည်။ ထို့ကြောင့် အဋ္ဌကထာရှင်များသည် ကုရ်အာန်(၂း၁၇၃)တွင်ပါရှိသော သွေး၏သဘောကိုလည်း ယိုစီးသော သွေးဟုပင် တညီတညွတ်တည်း ယူဆကြသည်။

<u>သွေးသည် မသန့်သောအရာဖြစ်၏။ သွေးသည် မစားအပ်၊ သွေးဖြင့် အကျိုးမခံစားအပ်၊ သွေးကို လုံးဝမစားသုံးအပ်ဟု ပညတ်ထားရာ၌လည်း အဋ္ဌကထာရှင်များ အဆိုညီကြသည်။</u>

(၃) ဝက်၏အသားကို မစားအပ်ဟု ကုရ်အာန်ကျမ်းမြတ် (၂း၁၇၃၊ ၅း၃၊ ၆း၁၄၆၊ ၁၆း၁၁၅)တွင် အတည့်အလင်းဖော်ပြထားသည်၊ ဝက်၏အသားကို မစားအပ်ဟုဆိုထားရာ၌ အသားကိုသာဆိုသည်မဟုတ်၊ ယင်းတိရစ္ဆာန်၏ ကိုယ်ခန္ဓာအစိတ်အပိုင်း အားလုံးပင် မစားသုံးအပ်။ ဤပညတ်ချက်တွင် အစ္စလာမ်သာသနာဂိုဏ်း အားလုံးပင် အဆိုညီကြကုန်သည်။

ကမ္ဘာပေါ်ရှိ ယဉ်ကျေးသောလူမျိုး အားလုံးတို့၌လိုလိုပင် ကိုယ်ကျင့်တရား ယုတ်မာသူများနှင့် ညစ်ညမ်းသောသူများကို ဝက်တိရစ္ဆာန်နှင့် နှိုင်းယှဉ်လေ့ရှိသည်ကို တောက်ရှုခြင်းအားဖြင့် ဝက်တိရစ္ဆာန်ကို မည်မျှစက်ဆုပ်ရွံ့ရှာကြသည့်အကြောင်း ထင်ရှားစွာသိနိုင်ပေသည်။

<u>မထိုက်တန်သူတဦးအား ပညာသင်ကြားပို့ချပေးသောသူသည် ဝက်တိရစ္ဆာန်ကို ရွှေရတနာများနှင့် ပုလဲဝတ်ဆင်ပေးသော သူနှင့်တူသည်ဟု နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) မိန့်ကြားတော်မူခဲ့သည်၊</u> ကြည့်၊ မိရှ်ကာတ်ကျမ်း (ပညာကဏ္ဍ)။

ထို့အတူကောင်းမြတ်သော ရတနာများနှင့် မထိုက်တန်သူများကိုငင်း၊ အပြစ်ဒုစရိုက်မှုများတွင် နစ်မွန်းနေသူများကိုငင်း Bible ကျမ်းတွင်လည်း ဝက်တိရစ္ဆာန်နှင့်ပင် နှိုင်းယှဉ်ထားလေသည်။

ကြည့်၊ ရှင်မဿဲ (၇း၆)၊ ၂၊ ပေတရု။ (၂း၂၂)။

(၄) “အလ္လာဟ်အရှင်မြတ်မှတပါး အခြားအရာများအဖို့ ကြွေးကြော် တ,သခြင်းခံရသော အရာ” ဟူသည်ကား လှီးဖြတ်ချိန်၌ အလ္လာဟ်အရှင်မြတ်မှတပါး အခြားအရာများကို တ,သပြီးလှီးဖြတ်သော သားကောင်ကိုဆိုလိုသည်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ မွတ်စ်လင်မ်များတွင် အဆိုကွဲပြားမှုအလျဉ်းမရှိပေ။ (ဂျဆ္ဆ်ဆွာဆ္ဆ်)

**မှတ်သားဘွယ်**

အကယ်၍ မွတ်စ်လင်မ်တဦးသည် တိရစ္ဆာန်တကောင်ကို လှီးဖြတ်ရာ၌ အလ္လာဟ်အရှင်မြတ်မှတပါး အခြားအရာများကို ချဉ်းကပ်ရန် ရည်စူး၍ လှီးဖြတ်သည်ရှိသော် ထိုသူသည် (မုရ်တဒ်) (သာသနာကို ဖောက်ပြန်သူ) မည်၏။ ထိုသူလှီးဖြတ်ထားသော သားကောင်သည်လည်း သာသနာကို ဖောက်ပြန်သူ၏ လှီးဖြတ်ထားသော သားကောင်ပင်မည်၏။ (ကဗီရ်)

فَلَآ إِثۡمَ عَلَيۡهِۚ إِنَّ ٱللَّهَ
غَفُورٞ رَّحِيمٌ ١٧٣

သို့တားမြစ်ထားသော်လည်း မလွဲမရှောင်သာ နိုင်အောင် အကျပ်အတည်းနှင့် တွေ့ကြုံနေသော သူတဦးသည် (တားမြစ်ထားသော အာဟာရကို) မက်မောသူ မဟုတ်ဘဲ၊ အစားကျူးသူလည်း မဟုတ်ဘဲ၊ (အသက်မသေရုံမျှ စားသုံးခဲ့ပါလျှင်) ထိုသူ့အပေါ်၌ တစုံတရာ အပြစ်မရှိချေ။ [1] ဧကန်မုချ အလ္လာဟ်အရှင်မြတ်သည် (ချို့တဲ့မှုများကို) အထူးချမ်းသာခွင့် ပေးသနားတော်မူအရှင်၊ အစဉ်အမြဲ သနားကြင်နာ ညှာတာတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

إِنَّ ٱلَّذِينَ يَكۡتُمُونَ مَآ أَنزَلَ
ٱللَّهُ مِنَ ٱلۡكِتَٰبِ وَيَشۡتَرُونَ
بِهِۦ ثَمَنٗا قَلِيلًا أُوْلَٰٓئِكَ مَا
يَأۡكُلُونَ فِي بُطُونِهِمۡ إِلَّا
ٱلنَّارَ وَلَا يُكَلِّمُهُمُ ٱللَّهُ يَوۡمَ
ٱلۡقِيَٰمَةِ وَلَا يُزَكِّيهِمۡ وَلَهُمۡ
عَذَابٌ أَلِيمٌ ١٧٤

**၁၇၄။** အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ်တော်မူသော *ကျမ်းဂန်လာ တရားဒေသနာတော်များကို ထိမ်ချန်၍* [2] ထိုဒေသနာတော်များကို အနည်းငယ်မျှသော အဘိုးအခဖြင့် လဲလှယ်ရောင်းချ စားသုံးသောသူများသည် မိမိတို့၏ဝမ်းတွင်းသို့ အခြား (တစုံတရာ) စားသုံးကြသည်မမည်။ စင်စစ်အားဖြင့် မီးကိုသာ စားသုံးရာမည်ချေသည်။ အလ္လာဟ်အရှင်မြတ်သည် ရှင်ပြန်ထမြောက်မည့်နေ့တွင် ထိုသူများ အား (ချိုအေးသောစကားကို) ပြောကြားတော်မူမည် လည်းမဟုတ်၊ ထိုသူတို့အား (အပြစ်ဒုစရိုက်မှုများမှ) သန့်ရှင်းစေတော်မူမည် လည်းမဟုတ်၊

(၁) ဤမုက္ခပါဌ်တော်တွင် စားသုံးအပ်သော ပစ္စည်းနှင့် မစားသုံးအပ်သော ပစ္စည်းများကို ပိုင်းခြား၍ ပညတ်ထားတော်မူလင့်ကစား မလွဲသာမရှောင်သာသော အခက်အခဲ အကျဉ်းအကျပ်နှင့် ရင်ဆိုင်ရသည့်အခါမျိုး၌မူ မစားအပ်ဟု ပညတ်ထားသော ပစ္စည်းကိုပင်လျှင် စားသုံးပိုင်သည်ဟု အလ္လာဟ်အရှင်မြတ်သည် အခွင့်ပြုထားတော်မူလေသည်။ ဤကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင်တည်း။

မလွဲမရှောင်သာသောအခါ၌ စားသုံးခြင်းသည် (သာမန်)ခွင့်ပြုချက်မဟုတ်၊ မုချလိုက်နာရမည်ဖြစ်သော ပြဋ္ဌာန်းချက်ပင် ဖြစ်လေသည်။ အကယ်၍ အကြင်သူတဦးသည် မစားသုံးဘဲနေပါလျှင် ထိုသူသည် အမိန့်တော်ကို ဖီဆန်သောသူမည်၏။

အစ္စလာမ်သာသနာတော်အရ မည်သူတဦးတယောက်၏ အသက်ကိုမျှ သတ်ပိုင်ခွင့်မရှိချေ။ ➢➢

ထို့ပြင်တဝ ယင်းသူတို့ ခံစားရန် ပြင်းပြ နာကျင်စေသော အပြစ်ဒဏ်လည်း အသင့်ရှိပေသတည်း။

أُولَٰئِكَ الَّذِينَ اشْتَرَوُا الضَّلَالَةَ بِالْهُدَىٰ وَالْعَذَابَ بِالْمَغْفِرَةِ ۚ فَمَا أَصْبَرَهُمْ عَلَى النَّارِ ﴿١٧٥﴾

**၁၇၅။** (ဤဘဝတွင်)လမ်းမှားကို လမ်းမှန်ဖြင့်၎င်း၊ ပြစ်ဒဏ်ကို လွတ်ငြိမ်း ချမ်းသာခွင့်ဖြင့်၎င်း၊ လဲလှယ် ဝယ်ယူသော သူများသည် ဤသူများပင်တည်း၊ ယင်းသူတို့သည် အဘယ်နည်းဖြင့် ငရဲမီး၏ ဒဏ်ကို ခံဝံ့ကြပါဘိသနည်း။

ذَٰلِكَ بِأَنَّ اللَّهَ نَزَّلَ الْكِتَابَ بِالْحَقِّ ۗ وَإِنَّ الَّذِينَ اخْتَلَفُوا فِي الْكِتَابِ لَفِي شِقَاقٍ بَعِيدٍ ﴿١٧٦﴾

**၁၇၆။** ဤကဲ့သို့ (အပြစ်ဒဏ်များ ခံစားကြရမည့်) အကြောင်းမှာကား၊ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် မှန်ကန်သော ဓမ္မဒေသနာများနှင့်တကွ ကျမ်းတော်မြတ်ကို ချပေးသနားတော်မူခဲ့သော်လည်း (ယင်း) ကျမ်းတော်မြတ်နှင့်စပ်လျဉ်း၍ သဘောကွဲလွဲကြသူတို့သည် မှန်သောတရားတော်မှ (အလွန်တရာမှ) ဝေးကွာလှသော ကွဲပြားမှု၌ ဧကန်အမှန် ရောက်ရှိကြလေပြီ။

---

>> အစာငတ်ခံ၍ အသက်အသေခံခြင်း၊ တနည်းနည်းနှင့် မိမိအသက်ကို မိမိဖျက်ဆီးခြင်းသည် အစ္စလာမ်တရားတော်နှင့် လုံးဝဆန့်ကျင်သောအမှုဖြစ်ချေသည်။

အစာကိုဖြတ်၍ မိမိကိုယ်ကို မိမိကိုယ်တိုင် သတ်သေခြင်းသည် အကြီးဆုံးသော ဒုစရိုက်မှုတည်း။

“အာဒင်န်” နှင့် “ဗာဃင်န်” ဟူသော ပုဒ်များကို ကုရ်အာန်ကျမ်းတတ် ပါရဂူများသည် အမျိုးမျိုးအနက်ဖွင့်ကြသည်။ ဤတွင် အချို့ကို ဖော်ပြပါအံ့။

**<u>သဘောကား</u>**

မစားသုံးအပ်ဟု ပညတ်ထားသော အာဟာရကို မလွှဲမရှောင်သာသော အခက်အခဲအကျဉ်းအကျပ်နှင့် ရင်ဆိုင် တွေ့ဆုံရသည့်အခါ၌ စားသုံးနိုင်ခွင့် ရရှိသောသူသည် အရသာကို မက်မောသောသူလည်း မဖြစ်ရ၊ အဆာပြေသည်ထက် ပိုမိုစားသုံးသူလည်း မဖြစ်ရ။

(၂) ကျမ်းလာအမိန့် ပညတ်တော်များကို ထိမ်ချန်ထားခြင်းသည် မစားသုံးအပ်သော အာဟာရများကို စားသုံးခြင်း ထက်ပင် ပိုမိုဆိုးရွားလှသည်ကို အထူးပြောရန်မလို၊ ထို့ကြောင့် ဤကဲ့သို့ ပြစ်မှုကျူးလွန်သော သူများခံစားရမည့် ပြစ်ဒဏ်များသည်လည်း မတွေးတောဝံ့အောင် ထိတ်လန့်ကြောက်ရွံ့ဘွယ် ပြင်းထန်လှပေသည်။

لَيْسَ الْبِرَّ اَنْ تُوَلُّوْا وُجُوْهَكُمْ قِبَلَ الْمَشْرِقِ وَ الْمَغْرِبِ وَلٰكِنَّ الْبِرَّ مَنْ اٰمَنَ بِاللّٰهِ وَالْيَوْمِ الْاٰخِرِ وَالْمَلٰٓئِكَةِ وَالْكِتٰبِ وَالنَّبِيّٖنَ ۚ وَاٰتَى الْمَالَ عَلٰى حُبِّهٖ ذَوِى

၁၇၇။ အရှေ့အရပ် ဘက်သို့သော် လည်းကောင်း၊ အနောက်အရပ် ဘက်သို့သော် လည်းကောင်း မျက်နှာမူခြင်းသည် (သာလျှင်) အသင်တို့အဘို့ *ကောင်းမြတ်သောအကျင့်သီလ* [၁] မဟုတ်သေးပေ။ ကောင်းမြတ်သောသီလရှိသူ သီလဝန်ဂုဏဝန်တို့ ဟူသည်ကား အလ္လာဟ်အရှင်မြတ်ကိုငင်း၊ နောက်ဆုံးနေ့ကိုငင်း၊ ကောင်းကင်တမန် များကိုငင်း၊ (အလ္လာဟ် အရှင်မြတ်ထံမှကျရောက်သော) ပရိယတ္တိ ကျမ်းဂန် များကိုငင်း၊ နဗီ [၂] တမန်တော်များကိုငင်း၊ ယုံကြည် မြတ်နိုးကြသောသူများတည်း။

---

(၁) "ဗစ်ရ်ရ်" ဟူသောပုဒ်၏ အဓိပ္ပါယ်ကြွယ်သည်နှင့်အညီ အဋ္ဌကထာရှင်များသည် ထိုပုဒ်၏အနက်ကို အမျိုးမျိုးဖွင့်ကြသည်။

(က) "ဗစ်ရ်ရ်" ဟူသည်ကောင်းမြတ်သောအကျင့်တရားကို များစွာပွားများခြင်းတည်း။ (ရာဃိဗ်)

(ခ) "ဗစ်ရ်ရ်" ဟူသည် လိုက်နာခြင်းတည်း။ (တာဂျ်)

(ဂ) "ဗစ်ရ်ရ်" ဟူသည် အလ္လာဟ်အရှင်မြတ်ထံတော်ပါးသို့ ချဉ်းကပ်စေနိုင်သော ခဝပ်မှုများနှင့် ကောင်းမှုများအားလုံးကိုအကျုံးဝင်သော နာမ်ပုဒ်ဖြစ်သည်။(ကဗီရ်။)

(ဃ) "ဗစ်ရ်ရ်" ဟူသည် လူသားတို့အား ကုသိုလ်အကျိုးဖြစ်ထွန်းစေသော ကောင်းမှုအစုစုတို့၏ အမည်နာမဖြစ်သည်။(ကဗီရ်။)

(င) "ဗစ်ရ်ရ်" ဟူသည် နှစ်မြို့ဘွယ်ကောင်းသော အပြုအမူအရပ်ရပ်တည်း။

(စ) "ဗစ်ရ်ရ်" ဟူသည် ကောင်းမှုပြုခြင်း၊ ကောင်းမှု၏ပြည့်စုံခြင်းကို ဆိုသည်။(ရှုဟ်။)

(ဆ) "ဗစ်ရ်ရ်" ဟူသည် ပစ္စက္ခဘဝနှင့် နောင်တမလွန်ဘဝ၏ ကောင်းခြင်းကို ဆိုလိုသည်။ ဤကား အဗူမန်ဆူရ်၏ အဆိုတည်း။(တာဂျ်။)

(ဇ) အဆိုတရပ်အရ ထို(အလ်ဗစ်ရ်ရ်) ဟူသောစကားသည် ကောင်းခြင်း၏ လမ်းစဉ် အရပ်ရပ်ကို ဆိုလိုသည်။ မုက္ခပါဌ်တော်၏ ဓမ္မဓိဋ္ဌာန်ဖြစ်ခြင်းကြောင့် ဤအဆိုသည် မှန်ကန် သင့်မြတ်ပေသည်။ (အီဗ်နုအရဗီ)

(ဈ) "ဗစ်ရ်ရ်" ဟူသည် ကောင်းမြတ်သောအရာတည်း။ (တာဂျ်။)

(တာဂျ်)ကျမ်းရှင်က ဤအဆိုနှင့်စပ်လျဉ်း၍ ကျွန်ုပ်သည် ဤအဆိုထက် အနက်အဓိပ္ပါယ် ပြည့်ဝစုံလင်သော အဆိုကို မသိပါ၊ အဘယ့်ကြောင့်ဆိုသော် ဤအဆိုသည် အဋ္ဌကထာရှင်အသီးသီးတို့၏ အဆိုများကို အကျုံးဝင်သော အဆိုဖြစ်သည်ဟု ဝေဘန်ထားလေသည်။

ကုရ်အာန်ကျမ်းမြတ်တွင် ဤမုက္ခပါဌ်တော်အပြင် (ဗစ်ရ်ရ်)ဟူသောပုဒ်ကို ၇ ဌာနတွင် သုံးထားသည်ကို တွေ့ရှိရသည်။ ကြည့်၊ ကုရ်အာန်(၂း၄၄၊ ၂း၁၇၇၊ ၂း၁၈၉၊ ၃း၉၁၊ ၅း၂)။ ကုရ်အာန်ကျမ်းမြတ် (၅း၂) ➤➤

➤➤ တွင် (ဗစ်ရ်ရ်) ဟူသောပုဒ်ကို အပြစ်ဒုစရိုက်အနက်ဟောသော "ဣဆ်မ" နှင့် ဆန့်ကျင်၍ သုံးထားသည် ဖြစ်ရာ "ဗစ်ရ်ရ်" ၏အနက်သည် သုစရိုက်၊ ဗြဟ္မစရိယ၊ မြတ်သောအကျင့်ဟုရသည်။

ဒုစရိုက်နှင့်သုစရိုက် ခွဲခြားသိလို၍ လာရောက်မေးလျှောက်သော သာ၀ကကြီးတပါးအား နဗီတမန်တော် မုဟမ္မဒ်(ဆွ)က အောက်ပါအတိုင်း ဖြေကြားတော်မူလေသည်။

. . . . အသင်သည် (ဤအကြောင်းနှင့်စပ်လျဉ်း၍) မိမိ၏စိတ်ကိုသာ မေးမြန်းပါဟု သုံးကြိမ်တိုင်တိုင် မိန့်ကြားတော်မူလေသည်။ ထို့နောက် ဆက်လက်၍ အကြင်ကိစ္စတရပ်သည် မိမိ၏စိတ်တွင်း၌ အေးချမ်းသာယာမှုကို ဖြစ်စေ၏။ နှလုံးတွင်း၌ နှစ်သိမ့်မှုကိုဖြစ်စေ၏။ ထိုကိစ္စသည် သုစရိုက်မည်၏။ အကြင်ကိစ္စရပ်သည် စိတ်တွင်း၌ မချမ်းမြေ့ဘဲနေ၏။ ရင်တွင်း၌ ယုံမှားသံသယဖြစ်၏။ ယင်းကိစ္စသည် ဒုစရိုက်မည်၏ဟု မိန့်ကြားတော်မူလေသည်။ (မစ်ရှ်ကာတ်။)

## ၂ "နဗီ" နှင့် "ရစူလ်" အသို့ခြားနားသနည်း။

ရစူလ်ဟူသည် လူသားတို့အားဟောကြားရန်အလို့ငှာ (ရှရီအတ်) ပဋိပတ်ကျင့်စဉ်အသစ်နှင့်တကွ အလ္လာဟ်အရှင်မြတ်စေလွှတ်တော်မူသော သူမွန်သူမြတ်များတည်း။ နဗီဟူသည်အဆိုပါ ရစူလ်တမန်တော်တွင်လည်း အကျုံး၀င်၏။ ထို့ပြင် ပို့ချပြီးသောပဋိပတ်ကျင့်စဉ်များကို တည်စေရန်အလို့ငှာ အလ္လာဟ်အရှင်မြတ်က စေလွှတ်တော်မူသော သူမွန်သူမြတ်တွင်လည်းအကျုံး၀င်၏။ ဤသည်ကို အကြောင်းပြု၍ နဗီတမန်တော် မုဟမ္မဒ်(ဆွ)က ကျွန်ုပ်၏တပည့်သာ၀ကများအနက်ပညာရှင်သုခမိန်များသည် အစ္စရာအီလီလူမျိုးတွင်ပွင့်သော နဗီတမန်တော်များနှင့်တူ၏ဟု နှိုင်းယှဉ်၍ မိန့်ဆိုတော်မူခဲ့၏။ ဥပမာ နဗီတမန်တော် မူစာ(အ)နှင့် နဗီတမန်တော် အီစာ(အ)တို့၏ကြားတွင် ပွင့်လေသမျှသော နဗီတမန်တော်များကို ဆင်ခြင်ပါကုန်။

ထို့ပြင်တ၀ နဗီတမန်တော်များသည် အဘယ်မျှရှိကြောင်း မေးလျှောက်သောအခါ နဗီ တမန်တော် ဦးရေမှာ ၁၂၄,၀၀၀ ဖြစ်ကြောင်း နဗီတမန်တော်မုဟမ္မဒ်(ဆွ)က ဖြေကြားတော်မူ၏။ တဖန်ထပ်မံ၍ ယင်းနဗီတမန်တော်များအနက် ရစူလ်တမန်တော် အဘယ်မျှ ရှိပါသနည်းဟု လျှောက်သောအခါ ယင်းတို့အနက် ရစူလ်တမန်တော် ၃၁၃ ပါးရှိကြောင်း မိန့်ကြားတော်မူ၏။

**သတိပေးနှိုးဆော်ချက်**

ပွင့်လေသမျှသော နဗီတမန်တော်များတွင် နဗီတမန်တော် မုဟမ္မဒ်(ဆွ)သည် အန္တိမအဆုံးအစွန်၌ ပွင့်တော်မူသော နဗီတမန်တော်တည်း။ နဗီတမန်တော် မုဟမ္မဒ်(ဆွ) ပွင့်တော်မူပြီးသည့်နောက်တွင် မည်သည့်ခေတ် မည်သည့်ဒေသ၌မျှ နဗီရစူလ်အသစ် ပွင့်တော်မူမည်မဟုတ်ချေ။

အဘယ့်ကြောင့်ဟူမူ (က) အစ္စလာမ် သာသနာတော်သည်ကား လုံး၀ပြည့်စုံချေပြီ။ ကြည့်၊ ကုရ်အာန်(၅း၃) (ခ) အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင်ကပင် နဗီတမန်တော်မုဟမ္မဒ်(ဆွ)အား "ခါတမွန်နဗိယီန်" နဗီတမန်တော်များတွင် အန္တိမ အဆုံးစွန်၌ပွင့်သော နဗီတမန်တော်ဖြစ်သည်ဟု အတည့်အလင်း ဖွင့်ဟမိန့်ဆိုထားတော်မူသည်၊ (ဂ) ထို့ပြင်တ၀ နဗီတမန်တော် မုဟမ္မဒ်(ဆွ)ကလည်း ဤအကြောင်းနှင့် စပ်လျဉ်း၍ ငါ [မုဟမ္မဒ်(ဆွ)]၏ နောက်တွင် မည်သည့်နဗီတမန်တော်မျှပင် ပွင့်ရန်အလျင်းမရှိပြီဟု အတည့်အလင်း မိန့်ဆိုခဲ့လေပြီ။ ကြည့်၊ ဗုခါရီ။

ဖော်ပြပါအကြောင်းများကြောင့် အကယ်၍ ပုဂ္ဂိုလ်တဦးတယောက်သည် နဗီတမန်တော် မုဟမ္မဒ်(ဆွ) ၏နောက်တွင် မိမိကိုယ်ကို နဗီတမန်တော်ဟု ထုတ်ဖော်ပြောဆိုပါမူ ထိုသူ့ကိုအစ္စလာမ် တရားတော်အရ (ဒဂ်ျဂျာလ်) ဖြားယောင်းလိမ်လည်သူဟု မှတ်ယူရမည်သာတည်း။

ဥစ္စာပစ္စည်းများကို စုံမက်နှစ်သက်ပါလျက်နှင့်ပင် [1] (တနည်း အလ္လာဟ် အရှင်မြတ်ကို ကြည်ညိုမြတ်နိုး ကြ၍) ဆွေမျိုးညာတကာ များအားငှင်း၊ မိသက်ဆိုး ဘသက်ဆိုးများအားငှင်း၊ အထီးကျန်သူဆင်းရဲများ အားငှင်း၊ ခရီးသည်များအားငှင်း၊ ဖုန်းတောင်း ယာစကာများအားငှင်း၊ *ကြေးကျွန်များကို ကျွန်ဘဝမှ လွတ်မြောက်စေရာ၌ငှင်း၊* [2] ပေးကမ်းလှူဒါန်း စွန့်ကြကြ၏။ ထို့ပြင် ယင်းသူတို့သည် ဆွလာတ် ဝတ်ပြုကြ၏။ ဇကာတ် တရားဝင်ဒါနကြေးကိုလည်း ပေးလှူကြ၏။

الْقُرْبٰى وَالْيَتٰمٰى وَالْمَسٰكِيْنَ وَابْنَ السَّبِيْلِ ۙ وَالسَّآئِلِيْنَ وَفِى الرِّقَابِ ۚ وَاَقَامَ الصَّلٰوةَ وَاٰتَى الزَّكٰوةَ ۚ وَالْمُوْفُوْنَ بِعَهْدِهِمْ اِذَا عٰهَدُوْا ۚ وَالصّٰبِرِيْنَ فِى الْبَاْسَآءِ وَالضَّرَّآءِ وَحِيْنَ الْبَاْسِ ؕ

(၁) "ဟွတ်ဗ်ဗိဟီ" ဟူသော ပုဒ်၌ပါရှိသည့် "ဟီ" ဟူသော နာမ်စားသည် (က) အလ္လာဟ်အရှင်မြတ်ကို ညွှန်းသည်ဟူ၍ငှင်း၊ (ခ) ဥစ္စာပစ္စည်းကို ညွှန်းသည်ဟူ၍ငှင်း အဋ္ဌကထာရှင်များသည် အသီးသီးယူဆကြ၏။ ဆိုလိုရင်းသဘောမှာ အလ္လာဟ်အရှင်မြတ်ကို ကြည်ညိုမြတ်နိုး၍ လှူဒါန်းခြင်းသည် မြတ်၏ဟု အချို့ကယူဆ၏။ အချို့ကမူ နှစ်သက်သောပစ္စည်းကို လှူဒါန်းခြင်းသည် မြတ်၏ဟု ယူဆ၏။

ဖော်ပြပါ အဆိုနှစ်ရပ်သည် အကျိုးအားဖြင့် မခြားလှပေ။ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ် အရှင်မြတ်ကို ကြည်ညိုမြတ်နိုးသောသူသည် မိမိနှစ်သက်သော ပစ္စည်းကို မတွန့်မတို ကြည်ဖြူစွာ ရက်ရက်ရောရော လှူဒါန်းမည်သာတည်း။ ထို့အတူ မိမိနှစ်သက်သောပစ္စည်းကို လှူဒါန်းသောသူသည် အလ္လာဟ် အရှင်မြတ်ကို ကြည်ညို မြတ်နိုးသော သူသာဖြစ်ချေမည်။ အလ္လာဟ် အရှင်မြတ်ကို မကြည်ညိုသောသူသည် မိမိနှစ်သက်သော ပစ္စည်းကို လှူဒါန်းမည်မဟုတ်။ "မကောင်းကျောင်းပို့" ဆိုသောသဘောနှင့် အသုံးမဝင်သော ပစ္စည်းများကို စွန့်ကြဲသောသူသည် အလ္လာဟ်အရှင်မြတ်ကို အဘယ်မှာလျှင် ကြည်ညိုမြတ်နိုးသောသူ ဖြစ်နိုင်ပါအံ့နည်း။ သို့ဖြစ်လေရာ အလ္လာဟ်အရှင်မြတ်ကို မြတ်နိုး၍ လှူဒါန်းခြင်းနှင့် နှစ်သက်သောပစ္စည်းကို လှူဒါန်းခြင်းသည် စကားအသုံးအနှုန်း ခြားနားကာမျှဖြစ်၍ အလိုအားဖြင့် ခြားနား သည်မရှိပေ။ သံတူကြောင်းကွဲမျှသာ ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်ကို ယုံကြည်မြတ်နိုးသော သူများဖြစ်သည်နှင့် လျော်ညီစွာ မိမိတို့၏ ဥစ္စာပစ္စည်းများနှင့်တကွ မိမိတို့၌ ရှိရှိသမျှသော စွမ်းရည်သတ္တိများကို အလ္လာဟ်အရှင်မြတ်နှစ်မြို့တော်မူသော ကိစ္စအဝဝ၌ သဒ္ဓါတရားကိုရှေ့ရှုလျက် လှူဒါန်းသုံးစွဲကြရမည်မှာ အမှန်ပင်ဖြစ်ပေသည်။

(၂) "ရိကာဗ်" ဟူသောစကားသည် "ရကဗဟ်" ဟူသောစကား၏ ဗဟုဝုစ်ကိန်းဖြစ်သည်။ "ရကဗဟ်" ၏ မူရင်းအနက်မှာ လည်တိုင်လည်ကုပ်ဟူ၍ ဖြစ်သည်။ အရဗီဘာသာစာပေ၌ လည်ကုပ်ဟူသော စကားကို ဥပစာနည်းဖြင့် ကြေးကျွန်အဘို့ သုံးစွဲသည်၊ ကြည့် (ရာဃိဗ်)။

လူစင်စစ်ပင် ဖြစ်ပါလျက် အခါအခွင့် အကြောင်း မသင့်သည့် အတွက် အခြား သူများ ➤➤

أُولَٰٓئِكَ ٱلَّذِينَ صَدَقُوا۟ وَأُولَٰٓئِكَ هُمُ ٱلْمُتَّقُونَ ﴿١٧٧﴾

ယင်းသူတို့သည် ကတိပြုသောအခါ၌ မိမိတို့၏ ပဋိညာဉ် ဝန်ခံချက်များကို အတည်ပြုကြ၏။ ဆင်းရဲ ဒုက္ခကျရောက်သည့်အခါ၌၎င်း၊ ရောဂါဘယ ဖိစီးသည့်အခါ၌၎င်း၊ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်သည့် အခါ၌၎င်း၊ ခန္တီပါရမီကို ခိုင်မြဲစွာစောင့်စည်းကြ၏။ ဤတရားများကို လိုက်နာကျင့်သုံးသော သူမွန်သူမြတ်များ သည်သာလျှင် သစ္စာဝါဒီများ ဖြစ်ကြကုန်၏။ ဤ သူမွန်သူမြတ်တို့ သည်သာလျှင် (အလ္လာဟ်အရှင်မြတ်ကို) ကြောက်ရွံ့ရိုသေ မြတ်နိုးသော သီလဝန် ဂုဏဝန်များ ဖြစ်ကြကုန်၏။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ كُتِبَ عَلَيْكُمُ ٱلْقِصَاصُ فِى ٱلْقَتْلَى ۖ ٱلْحُرُّ بِٱلْحُرِّ وَٱلْعَبْدُ بِٱلْعَبْدِ وَٱلْأُنثَىٰ بِٱلْأُنثَىٰ ۚ فَمَنْ عُفِىَ لَهُۥ مِنْ أَخِيهِ

**၁၇၈။** အို–"အီမန်" ယုံကြည်ခြင်း သဒ္ဓါတရားထားရှိသူအပေါင်းတို့၊ အသင်တို့အပေါ်၌ (အနိုင်အထက် နှိပ်စက်ညှဉ်းပမ်း မတရား) သတ်ဖြတ်ခြင်း ခံကြရသူတို့နှင့် စပ်လျဉ်း၍ (အလ္လာဟ်အရှင်မြတ်၏အထံတော်မှ) လက်စားချေရန် [၁] (ဓမ္မသတ်ဥပဒေကို) ပြဋ္ဌာန်း အတည်ပြုထားတော်မူလေပြီ။

---

➤➤ လက်ဝယ်တွင် တိရစ္ဆာန်များပမာ ကြေးကျွန်အဖြစ်သို့ ရောက်ရှိနေသောသူများသည် လူဖြစ်ကျိုးမနပ် ဖြစ်ကြရတော့သည်ကား အလွန်ဝမ်းနည်းစရာပင်။

အစ္စလာမ်တရားတော်၌ လျော်ဒဏ်ပေးဆောင်ရန် ပညတ်အမျိုးမျိုးရှိသည့်အနက် လူဖြစ်ကျိုးရှုံး၍ လူညွန့်တုံးလျက်ရှိသော ကြေးကျွန်များကို (ကျွန်ဘဝမှ ကယ်တင်ခြင်း)သည်လည်း ကြီးမားသော လွတ်ငြိမ်းချမ်းသာခွင့်ပေးခြင်း၊ လျော်ဒဏ် ပေးဆောင်ခြင်းတရပ်ဖြစ်ကြောင်း အလ္လာဟ်အရှင်မြတ် မိန့်ကြားတော်မူထားသည်။ ကြည့် ကုရ်အာန် (၄း၉၂၊ ၅း၈၉၊ ၅၈း၃)။

နဗီတမန်တော် မုဟမ္မဒ်(ဆွ)ကလည်း ကြေးကျွန်များအား လွတ်ငြိမ်းချမ်းသာခွင့် ပေးခြင်း၏ အကျိုးအာနိသင်များကို အောက်ပါအတိုင်း မိန့်မှာတော်မူခဲ့သည်။

အကြင်သူသည်၊ မွတ်စ်လင်မ် ကျွန်တဦးအား၊ ကျွန်အဖြစ်မှ လွတ်မြောက်စေအံ့၊ အလ္လာဟ် အရှင်မြတ်သည် ထိုသူ့အား (လွတ်ငြိမ်းခွင့်ပြုခြင်းခံရသော ထိုကျွန်၏) အဆစ်အပိုင်း အားလုံးနှင့်အမျှ ထိုသူ့အား၊ ငရဲမီးဘေးမှကယ်တင်တော်မူအံ့။ (မစ်ရှကာတ်)

(၁) သေစားသေစေခြင်း၊ ပြစ်ဒဏ်ခတ်ခြင်း အစရှိသည်တို့ကို အာဏာပိုင်မင်းများသာလျှင် စီရင်ဆုံးဖြတ်နိုင်ခွင့် ရှိသည်။ ဤပြဿနာတွင် အဆိုကွဲပြားမှုမရှိချေ။ ( ကုရ်တုဗီ )

شَيْءٌ فَاتِّبَاعٌ بِالْمَعْرُوفِ وَأَدَاءٌ إِلَيْهِ بِإِحْسَانٍ ۗ ذَٰلِكَ تَخْفِيفٌ مِّن رَّبِّكُمْ وَرَحْمَةٌ ۗ فَمَنِ اعْتَدَىٰ بَعْدَ ذَٰلِكَ فَلَهُ عَذَابٌ أَلِيمٌ ﴿١٧٨﴾

(ပြဋ္ဌာန်းချက်မှာ) လွတ်လပ်သော သူကောင်းသည်၊ လွတ်လပ်သော သူကောင်း၏အစား၊ [၁] ကြေးကျွန်သည် ကြေးကျွန်၏အစား၊ မိန်းမသည်မိန်းမ၏အစား (သေဒဏ်ခံရပေမည်)။ သို့ပင်တစေ အကြင်သူသည် မိမိ၏ ညီသားအစ်ကိုဖြစ်သော သေသူ၏အမွေဆိုင်တို့ဘက်မှ (လျော်ကြေးပေးလျှင် ကျေအေးမည်ဟု) ခွင့်လွှတ်ခြင်းခံရပါမူ (အမွေစားအမွေခံတို့အဘို့မှာ ထိုလျော်ကြေးငွေကို) ယဉ်ကျေး သိမ်မွေ့စွာဖြင့် တောင်းဆိုရမည်။ [၂] (ယင်းလက်သည်အဘို့မှာလည်း ထိုသူတို့တောင်းဆိုသည့်အတိုင်း) သာယာချေငံသော နည်းဖြင့် ပေးဆပ်ရမည်။။ ဤသည်ကား အသင်တို့အား မွေးမြူတော်မူသော အရှင်မြတ်၏အထံ တော်မှ သေစားသေစေခြင်းဒဏ်မှ သက်သာစေခြင်း နှင့် ကရုဏာတော်သက်ရောက်စေခြင်းပင် ဖြစ်လေ သည်။ (သို့သော်) ထို (ဥပဒေစည်းမျဉ်း ပြဋ္ဌာန်း ပြီးသည့်) နောက် မည်သူမဆို (ထိုစည်းမျဉ်း ဥပဒေကို ဖောက်ဖျက်) ကျူးလွန်ပါလျှင် ထိုသူအဘို့ (နောင်တမလွန်ဘဝတွင်) အလွန်ပြင်းပြ နာကျင်ဘွယ်ရာသော အပြစ်ဒဏ်သည် ရှိလတ္တံ့။

---

(၁) လူတန်းစားမရွေး အသွေးအရောင်မခြား လူတို့၏အသက်ဇီဝိန်သည် တမျိုးတစားတည်းဖြစ်ကြောင်း၊ မိမိ၏အပြစ်ကို မိမိသာလျှင်ခံရမည်ဖြစ်ကြောင်း၊ အပြစ်ဒဏ်ပေးရာတွင် တရားမျှတရမည့်အကြောင်း၊ မတရားမှုများကို ဟန့်တား ဖယ်ရှားရမည့် အကြောင်းများကို အလ္လာဟ်အရှင်မြတ်သည် ဤမုက္ခပါဠ်တော် (၂း၁၇၈)တွင် ထုတ်ဖေါ် မြွက်ကြားထားတော်မူသည်။

(၂) လူသတ်မှုသည် ရာဇဝတ်ကြောင်းနှင့် သက်ဆိုင်သကဲ့သို့ တရားမကြောင်းနှင့်လည်း သက်ဆိုင်ပေသည်။ လူသတ်မှုသည် ပြည်သူအများနှင့် သက်ဆိုင်သော ကိစ္စဖြစ်သကဲ့သို့ တဦးချင်းနှင့် သက်ဆိုင်သော ကိစ္စလည်း ဖြစ်ပေသည်။ လူသားတို့၏ တရားဥပဒေစည်းမျဉ်းကို ချိုးဖောက်ရာလည်း ရောက်ပေသည်။ အသတ်ခံရသူအား ကျူးကျော်စော်ကားရာလည်း ရောက်ပေသည်။ တခါတရံ လူသတ်မှုကျူးလွန်သောသူကို ဥပဒေစည်းမျဉ်းအရ သေစားသေစေရန် အမိန့်ချ၍ သတ်လိုက်သော်လည်း ထိုသူ၏ လက်ချက်ဖြင့် အသတ်ခံရသူကို မှီခိုအားထားနေကြသော သားသမီးများနှင့် ဆွေမျိုးသားချင်းတို့မှာ မည်ကဲ့သို့မျှ အကျိုးမခံစားရဘဲ ➤➤

وَلَكُمْ فِي الْقِصَاصِ حَيٰوةٌ يّٰأُولِي الْأَلْبَابِ لَعَلَّكُمْ تَتَّقُونَ ﴿١٧٩﴾

၁၇၉။ အို–ဆင်ခြင်တုံတရားနှင့်ပြည့်စုံသော နိသမ္မ ဉာဏ်ရှင်အပေါင်းတို့၊ စင်စစ်သော်ကား (ယင်းကဲ့သို့) လက်စားချေခြင်း၌ အသင်တို့အတွက် အသက်ရှင်ခြင်းရှိသည်။ [၁] သို့မှသာလျှင် အသင်တို့သည် ကြဉ်ရှောင်သူများ ဖြစ်တန်ကြရာပေသည်။

---

➤➤ အလွန်ကြီးလေးသော ဒုက္ခများနှင့် ရင်ဆိုင်၍ ကသီလင်တ ဖြစ်ကြရသည်ကိုလည်း တွေ့ရှိရသည်။ ထို့အတွက်ကြောင့် အကယ်၍ အသတ်ခံရသူ၏ သက်ဆိုင်ရာဆွေမျိုးများက ဥပဒေအရ သေစားသေစေဟူသော အမိန့်ကိုလျှော့၍ ကျေအေးလိုက အသက်ဘိုးလျော်ကြေးယူ၍ ကျေအေးနိုင်ကြောင်းကို အလ္လာဟ်အရှင်မြတ်သည် ဤမုက္ခပါဌ်တော် (၂း၁၇၈)တွင် ခွင့်ပြုထားတော်မူသည်။ ဤကားလူသားတို့၌ ဖြစ်ပေါ်တတ်သော သဘောတရားကိုရှေ့ရှု၍ သက်ညှာစွာ မိန့်ဆိုထားသော သက်သာခွင့်ပင် ဖြစ်ချေသည်။ ယခုခေတ်တွင် နိုင်ငံသားတစ်ဦးကို အခြားနိုင်ငံသားတစ်ဦးက သတ်သွား၍ အမှုအခင်းပြုလုပ်ရန် အခက်အခဲအမျိုးမျိုးနှင့် ရင်ဆိုင်ရသည့်အခါ၌ မိမိတို့နိုင်ငံသားတစ်ဦး ဆုံးရှုံးရသည့်အတွက် (Damages) လျော်ကြေးနှင့်ပင် ကျေအေးကြရသည်မှာ လက်တွေ့မျက်မြင်ပင်ဖြစ်၏။

လူသတ်မှု ဖြစ်ပွားသည့်အခါ အသတ်ခံရသူ၏ ဆွေမျိုးသားချင်းများတွင် လက်စားချေလိုသောစိတ်ဓာတ်များ တက်ကြွနေမည်မှာ ဓမ္မတာပင်ဖြစ်၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်က လူသတ်မှုကျူးလွန်မိသော မွတ်စ်လင်မ်သည် အလွန်ကြီးလေးလှသော ပြစ်မှုကို ကျူးလွန်မိလင့်ကစား ကာဖိရ် ဖြစ်မသွားကြောင်း၊ အစ္စလာမ် ချစ်ကြည်ရေးဘောင်အတွင်းမှ ထွက်မသွားကြောင်း၊ ထိုလူသတ်မှု ကျူးလွန်မိသော မွတ်စ်လင်မ်သည် အသတ်ခံရသူ၏သားချင်းများနှင့် သာသနာဝင်ညီနောင်ပင် ဖြစ်လျက်ရှိကြောင်း မိန့်ဆိုထားတော်မူ၍ အချင်းချင်း ကျေအေးနိုင်ရန် လမ်းစဉ်ကို ပြထားတော်မူလေသည်။ ဤကား အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ပင်တည်း။

(၁) အစ္စလာမ်သာသနာသည် ကမ္ဘာ့အေးချမ်းသာယာမှုကို အထူးလိုလားသော သာသနာပင်ဖြစ်ပေရာ၊ မတရားသတ်ဖြတ်မှုကို အလျင်းမလိုလားပေ။ သို့ဖြစ်ပါလျက် အစ္စလာမ်သာသနာသည် သတ်စားသတ်ရန်အမိန့်ကို အဘယ့်ကြောင့် ထုတ်ပြန်သနည်း၊ လင်းပြဦးအံ့။

နိသမ္မဉာဏ်ဖြင့် စဉ်းစားဆင်ခြင်သည်ရှိသော် တုံ့ပြန်သောသဘောဖြင့် သေစားသေစေခြင်းသည် လူသားတို့၏ အသက်စည်းစိမ်ကို ကာကွယ်စောင့်ရှောက်နိုင်ရန်အတွက် အကြောင်းမှန်တရပ်ပင် ဖြစ်ပေသည်။ သူတပါး၏ အသက်တချောင်းကို အကြောင်းမဲ့ဖြစ်စေ၊ မလုံလောက်သော အကြောင်းနှင့်ဖြစ်စေ သတ်ဖြတ်သူကို သက်ညှာ၍ ခွင့်လွှတ်ခဲ့သည်ရှိသော် အဆိပ်ပင်ကို ရေလောင်းဘိသကဲ့သို့ ထိုသူသည် အတင့်ရဲကာ ထောင်ပေါင်းများစွာသော လူသားတို့အား မလွဲဧကန် အန္တရာယ်ပြုပေမည်။ ထို့ကြောင့် လူသတ်မှုကျူးလွန်သူ တယောက်ကို သနားခြင်းသည် ထောင်ပေါင်းများစွာသော လူသားတို့အား မသနား မညှာတာရာရောက်ပေသည်။ လူသားတို့အား သနားကြင်နာပါက ထိုသို့သောသူမိုက်ကို မုချကွပ်မျက်ရပေမည်။

သေစားသေစေခြင်းတည်းဟူသော ပြစ်ဒဏ်သည် အလွန်ရက်စက်ကြမ်းကြုတ်သော ပြစ်ဒဏ်ဖြစ်သည်ဟု အချို့သောသူများက ယူဆကြသည်။ အမှန်မှာ သေစားသေစေခြင်း ပြစ်ဒဏ်သည် တရားမျှတ၍သာ ➤➤

كُتِبَ عَلَيْكُمْ إِذَا حَضَرَ أَحَدَكُمُ الْمَوْتُ إِن تَرَكَ خَيْرًا الْوَصِيَّةُ لِلْوَالِدَيْنِ وَالْأَقْرَبِينَ بِالْمَعْرُوفِ حَقًّا عَلَى الْمُتَّقِينَ ﴿١٨٠﴾

**၁၈၀။** (ထို့ပြင်) အသင်တို့အပေါ်၌ ပြဋ္ဌာန်းထားတော်မူသော အမိန့်တော်တရပ်မှာ အသင်တို့အနက် တဦးတယောက်၏ထံသို့ သေခြင်းတရားသည် ဆိုက်ရောက်လာသောအခါ၊ အကယ်၍ ထိုသူသည် တစုံတရာ ဥစ္စာပစ္စည်း ထားရှိခဲ့ပါမူ (ထိုသူ၏) မိဘနှစ်ပါးနှင့် ဆွေမျိုးရင်းချာတို့အဘို့ရာ ကောင်းမြတ်သောနည်းဖြင့် *(သေတမ်းစာအဖြစ်) မှာကြားခဲ့ရန်* ၁ တာဝန်ရှိပေသည်။ (ဤသည်ကား) ဒုစရိုက်မှုတို့မှ ကြဉ်ရှောင်သူအပေါင်းတို့အပေါ်၌ (မလွဲမရှောင်သာသော) တာဝန်ဝတ္တရားတရပ်ပင် ဖြစ်ချေသတည်း။

فَمَنۢ بَدَّلَهُۥ بَعْدَمَا سَمِعَهُۥ فَإِنَّمَآ إِثْمُهُۥ عَلَى الَّذِينَ يُبَدِّلُونَهُۥٓ ۚ إِنَّ اللَّهَ سَمِيعٌ عَلِيمٌ ﴿١٨١﴾

**၁၈၁။** တဖန်အကြင်သူတို့သည် ထိုမှာကြားချက်ကို ကြားနာကြပြီးသည့်နောက် (တမျိုးတဖုံ) ပြောင်းလွှဲခဲ့ပါမူ၊ ထိုမှာကြားချက်ကို ပြောင်းလွှဲသူတို့အပေါ်၌ သာလျှင် ထိုပြောင်းလွှဲခြင်း၏အပြစ်သည် ထိုက်ချေသည်။ မုချဧကန် အလ္လာဟ်အရှင်မြတ်သည် (ယင်းသူတို့ မှာထားခဲ့သည်များကို) အကြွင်းမဲ့ ကြားတော်မူသောအရှင် (ယင်းသူတို့၏ စေတနာ သဒ္ဓါတရားများကိုလည်း) အကြွင်းမဲ့သိတော်မူသော အရှင် ဖြစ်တော်မူ၏။

>> တူညီမျှ အခွင့်အရေးပေးသော ဥပဒေတစ်ရပ်ပင်ဖြစ်ပေသည်။ လူသားတို့အချင်းချင်း စိတ်ချယုံကြည်စွာ ပေါင်းသင်းဆက်ခံရေးနှင့် တိုင်းပြည်သာယာဝပြောရေးတွင် ဤဥပဒေသည် မရှိလျှင်မဖြစ်သော ဥပဒေတစ်ရပ်ပင် ဖြစ်ချေသည်။

ဤဥပဒေကို အတည်ပြုထားခြင်းဖြင့် လူများစုသည် လူနည်းစုကိုဎင်း၊ အာဏာရှိသောသူများသည် အာဏာမဲ့သောသူများကိုဎင်း၊ ကုံလုံကြွယ်ဝသောသူများသည် ဆင်းရဲသားများကိုဎင်း၊ အနိုင်အထက် နှိပ်စက်ညှဉ်းပန်း သတ်ဖြတ်ဝံ့ကြမည်မဟုတ်ပေ။ ဤဥပဒေတည်ရှိနေခြင်းဖြင့် လူသားတို့သည် မိမိတို့၏ အသက်စည်းစိမ်များအတွက် ပူပန်သောကကင်း၍ အေးချမ်းစွာ နေနိုင်ကြပေမည်၊ တဦးနှင့်တဦး ချစ်ခင်ကြပေမည်။ တဦးကိုတဦး ယုံကြည်အားထားကြပေမည်။ ဤကား သတ်စားသတ်ခြင်း ဥပဒေရှိခြင်း၏ အကျိုးပေတည်း။

(၁) ကျန်ရှိသောဥစ္စာပစ္စည်းများကို သက်ဆိုင်ရာသူများအား သေတမ်းစာဖြင့်ပေးကမ်းရန် အမိန့်သည် တမန်တော် မုဟမ္မဒ်(ဆွ)၏လက်ထက် အစ္စလာမ်သာသနာခေတ်ဦးလောက်တွင် ထုတ်ပြန်ချမှတ်သော အမိန့်တော် >>

فَمَنْ خَافَ مِنْ مُّوصٍ جَنَفًا اَوْ اِثْمًا فَاَصْلَحَ بَيْنَهُمْ فَلَآ اِثْمَ عَلَيْهِ ؕ اِنَّ اللّٰهَ غَفُوْرٌ رَّحِيْمٌ ﴿١٨٢﴾

**၁၈၂။** သို့ဖြစ်ငြားလည်း အကြင်သူသည် သေတမ်းစာ ထားရှိခဲ့သောသူ၏ထံမှ တစုံတရာသောလွဲချော်တိမ်းပါးမှားယွင်းမှု ကိုသော်လည်းကောင်း၊ သို့တည်း မဟုတ် တစုံတရာသော ပြစ်မှုကိုသော်လည်းကောင်း၊ စိုးရိမ်မကင်းဖြစ်သည့်အတွက် ယင်း(အမွေဆိုင်)သူတို့၏အကြားဝယ် စေ့စပ်သင့်မြတ်စေခဲ့ပါမူ (ထိုစေ့စပ်သင့်မြတ်ပေးသော) သူ၏အပေါ်၌ တစုံတရာ အပြစ်မရှိပြီ၊ ဧကန်မုချ အလ္လာဟ်အရှင်မြတ်သည် (ပြစ်မှုဒုစရိုက်တို့ကို) အဖန်တလဲလဲ လွတ်ငြိမ်းချမ်းသာခွင့်ပေးသနားတော်မူသောအရှင်၊ အလွန် သနားကြင်နာညှာတာတော်မူသောအရှင် ဖြစ်တော်မူ၏။

يٰٓاَيُّهَا الَّذِيْنَ اٰمَنُوْا كُتِبَ عَلَيْكُمُ الصِّيَامُ كَمَا كُتِبَ عَلَى الَّذِيْنَ مِنْ قَبْلِكُمْ لَعَلَّكُمْ تَتَّقُوْنَ ﴿١٨٣﴾

**၁၈၃။** အို-"မုအ်မင်န်" ယုံကြည်ခြင်းသဒ္ဓါတရားရှိကြကုန်သောသူအပေါင်းတို့၊ အလ္လာဟ်အရှင်မြတ်သည် အသင်တို့ထက်အလျင်ရှိခဲ့ကြသော သူတို့အပေါ်ဝယ် *ဥပုသ်သီတင်းဆောက်တည်ရန်* [၁] ပညတ်တော်ကို ပြဋ္ဌာန်းတော်မူသကဲ့သို့ပင် အသင်တို့အပေါ်၌ လည်း ဥပုသ်သီတင်းဆောက်တည်ရန် အမိန့်တော်ကို ပြဋ္ဌာန်းအတည်ပြုတော်မူခဲ့လေပြီ။ သို့ (ဥပုသ်သီတင်းဆောက်တည်) မှသာလျှင် အသင်တို့သည် ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်သူများ ဖြစ်တန်ကြရာ၏။

>> ဖြစ်ချေသည်။ နောင်သောအခါ၌ သက်ဆိုင်ရာ အမွေစားများအဘို့ အမွေခွဲတမ်းကို အတိအကျသိစေရန်အလို့ငှာ ကုရ်အာန်ကျမ်းမြတ် (၄း၁၁-၁၂)ကို ထုတ်ပြန်ချမှတ်ပေးတော်မူသည်။

အထက်အဆိုပါ မုကဒ္ဒပါဠ်တော် (၄း၁၁-၁၂)ကျရောက်လာပြီးနောက်မှာကား အမွေပစ္စည်း၏ သုံးပုံတပုံကိုသာလျှင် သေတမ်းစာဖြင့် ပေးကမ်းလှူဒါန်းပိုင်ခွင့်ရှိသည်။ သုံးပုံတစ်ပုံထက်ပို၍ သေတမ်းစာဖြင့် ပေးလှူပိုင်ခွင့်ကား မရှိတော့ချေ။ ဤအကြောင်းနှင့်စပ်လျဉ်း၍ အကျယ်ကိုသိလိုပါက အလ်မနာရ်ကျမ်းတွင် ရှုပါကုန်။

(၁) အရဗီဘာသာစာပေ၌ ဥပုသ်ဆောက်တည်ခြင်းကို "ဆိုယာမ်" ဟူ၍၎င်း၊ "ဆွောင်မ်" ဟူ၍၎င်း၊ ခေါ်ဆို၏။ ထိုပုဒ်များ၏ မူရင်းအဓိပ္ပါယ်မှာ ဆိုင်းငံ့ခြင်း၊ တားဆီးခြင်းဟူ၍ဖြစ်၏။

အစ္စလာမ် သာသနာ ပဋိပတ် ကျင့်စဉ်တွင် ဥပုသ် ဆောက်တည်ခြင်း အနက်သဘောမှာ >>

➤➤ အောက်ပါအတိုင်းဖြစ်သည်။

"ဆွောင်မ်" ဟူသည် စိတ်ပြဋ္ဌာန်းချက်ဖြင့် နေ့အချိန်၌ စားခြင်း၊ သောက်ခြင်း၊ မေထုန်မှီဝဲခြင်းများမှ ဆိုင်းငံ့ခြင်းကို ဆိုလိုသည်။ ဟိဒါယယ်။

ဆွိယာမ်ဥပုသ် ဆောက်တည်ခြင်းသည် အစ္စလာမ်သာသနာ၏ မဏ္ဍိုင်ကြီး ၅ ရပ်တွင် တစ်ခု အပါအဝင်ဖြစ်သည်။ ကမ္ဘာလောကရှိ ဘာသာအသီးသီးတွင်လည်း မိမိတို့၏ ဘာသာအယူဝါဒအလျောက် ဥပုသ်ဆောက်တည်ကြသည်ကို တွေ့ရှိရပေသည်။

ဆွိယာမ်ဥပုသ် ဆောက်တည်ခြင်းသည် အစ္စလာမ် တရားတော်အရ မလုပ်မနေရသော တာဝန်တရပ်ပင်ဖြစ်သည်၊ ဥပုသ် ဆောက်တည်ခြင်းသည် သာသနာရေး ပဋိပတ်ကျင့်စဉ်တရပ် ဖြစ်သည့်အားလျော်စွာ လောကုတ္တရာ အကျိုးဆောင်မည်မှာ ယုံမှားသံသယ ဖြစ်ဖွယ်ရာမရှိပေ။ သို့သော် ဥပုသ်ဆောက်တည်ခြင်းအားဖြင့် ဤလောကတွင်လည်း မြောက်မြားစွာသော အကျိုးကျေးဇူးများ ခံစားကြရလေသည်။ ဥပုသ်ဆောက်တည်ခြင်းအားဖြင့် ကျန်းမာရေးတွင် များစွာသောအကျိုးတရား ဖြစ်ထွန်းကြောင်းကို ခေတ်မီဆေးပါရဂူကြီးများက ထောက်ခံလျက်ရှိကြ၏။

ဥပုသ်ဆောက်တည်ရာတွင် စားခြင်း၊ သောက်ခြင်း၊ မေထုန်မှီဝဲခြင်းနှင့် မကောင်းမှုတို့မှ ရှောင်ရှားရပေရာ စိတ်ဓါတ်ကို ချုပ်တည်းနိုင်သော သတ္တိ၊ ဒုက္ခကြီးငယ်တို့ကို ရင်ဆိုင်နိုင်သော အရည်အချင်းနှင့် သူတော်ကောင်းစိတ်များသည် ဖြစ်ပေါ်လာလေသည်။

ဥစ္စာဓန ကုံလုံကြွယ်ဝသဖြင့် ငတ်မွတ်ဆာလောင်ခြင်းကိုပင် မသိသော အချို့သူဌေးသူကြွယ်များသည် ဥပုသ်ဆောက်တည်ခြင်းအားဖြင့် မိမိတို့ကိုယ်တိုင် ဆာလောင်မွတ်သိပ်ကြသောအခါ နေ့စဉ်နှင့်အမျှ ဆာလောင် မွတ်သိပ်နေသော သူဆင်းရဲများကို ကိုယ်ချင်းစာနာကာ ပေးကမ်းလှူဒါန်းကြပေမည်။

ကမ္ဘာအဝှမ်းရှိ မွတ်စ်လင်မ်တို့သည် ဆင်းရဲချမ်းသာမရွေး၊ လူတန်းစားမခွဲ တရားတော်ကပေးထားသော စည်းကမ်းနှင့်အညီ တချိန်တည်း၊ တညီတညွတ်တည်း၊ တမျိုးတစားတည်း၊ ရည်မှန်းချက်တခုတည်းနှင့် ဥပုသ်ဆောက်တည်ကြ၏။ သို့ဖြစ်ရာ ဆွိယာမ်ဥပုသ်ဆောက်တည်ခြင်းသည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်ကို နာခံရာရောက်သည်သာမက လက်တွေ့အားဖြင့် ကျန်းမာမှု ညီညွတ်မှု၊ ကိုယ်ချင်းစာနာမှု၊ ခွဲသတ္တိရှိမှု၊ သဒ္ဓါစိတ်၊ သူတော်ကောင်းစိတ်ရှိမှု အစုစုတို့ကို ဖြစ်ပွါးစေနိုင်သော ကျင့်စဉ်တရပ်ပင်ဖြစ်ပေသည်။

ဆွိယာမ်ဥပုသ်ဆောက်တည်ခြင်းနှင့် စပ်လျဉ်း၍ တမန်တော်မြတ်၏ ဩဝါဒတော်များကို ဤတွင်ဖော်ပြပါအံ့။

- အသင်တို့ဥပုသ်ဆောက်တည်ကြကုန်၊ ကျန်းမာကြကုန်လတ္တံ့ ။
- ဥပုသ်ဆောက်တည်ခြင်းသည် (အပြစ်မှုဒုစရိုက်တို့မှ ကာကွယ်ရန်) ဒိုင်းလွှားပင်ဖြစ်သည်။
- အကြင်သူတဦးသည် (ဥပုသ်ဆောက်တည်နေပါလျက်) မုသားပြောဆိုခြင်း၊ မုသားပြုလုပ်ခြင်း၊ အမှုတို့ကိုပြုအံ့၊ ထိုသူ၏အစားအသောက်ဖြတ်ထားခြင်းကို ၊အလ္လာဟ်အရှင်မြတ်သည် အလိုရှိတော်မမူချေ။ (မစ်ရှ်ကာတ်)
- ဥပုသ်ဆောက်တည်ခြင်းမှအပ လူသားတို့၏ အကျင့်သီလများသည် ကျင့်ဆောင်သူတို့အဖို့သာ ဖြစ်သည်။ ဥပုသ်ဆောက်တည်ခြင်းမှာမူကား ငါအရှင်မြတ်နှင့်သာ သက်ဆိုင်၏။ ထို့ဥပုသ်ဆောက်တည်ခြင်း၏ အကျိုးကိုလည်း ငါကိုယ်တော်တိုင် ချီးမြင့်တော်မူအံ့။

(မစ်ရှ်ကာတ်)

أَيَّامًا مَّعْدُودَاتٍ ۚ فَمَن كَانَ مِنكُم مَّرِيضًا أَوْ عَلَىٰ سَفَرٍ فَعِدَّةٌ مِّنْ أَيَّامٍ أُخَرَ ۚ وَعَلَى الَّذِينَ يُطِيقُونَهُ فِدْيَةٌ طَعَامُ مِسْكِينٍ ۖ فَمَن تَطَوَّعَ خَيْرًا فَهُوَ خَيْرٌ لَّهُ ۚ وَأَن تَصُومُوا خَيْرٌ لَّكُمْ ۖ إِن كُنتُمْ تَعْلَمُونَ ﴿١٨٤﴾

၁၈၄။ (အသင်တို့ ဆွံယာမ် ဥပုသ်သီတင်း ဆောက်တည်ကြရမည့်နေ့ရက်များကား) ရေတွက်ထားသော *(အနည်းငယ်မျှသော)* နေ့ရက်များပင်တည်း။ [၁] သို့ရာတွင် အသင်တို့အနက်မှ တဦးတယောက်သောသူသည် *ဝေဒနာစွဲကပ်၍ မကျန်းမာသောကြောင့်ဖြစ်စေ၊* [၂] သို့တည်းမဟုတ် ခရီးထွက်လျက်ရှိနေ*သောကြောင့်ဖြစ်စေ၊* [၃] (ဥပုသ်သီလ မဆောက်တည်နိုင်ဘဲ ပျက်ကွက်ခဲ့ပါလျှင်) ထိုသူ့အပေါ်၌ အခြားသောနေ့ရက်များကို တွက်စစ်၍ ဖြည့်စွက်(ဆောက်တည်)ရန် တာဝန်ရှိပေသည်။ တဖန် အကြင်သူတို့သည် *ခဲယဉ်းစွာ သီလဆောက်တည်ကြရပါမူ* [၄] ယင်းသူတို့သည် (ထိုပျက်ကွက်သော နေ့ရက်များ) အစား (တရက်လျှင်) သူဆင်းရဲတဦးကို (ထမင်းတရက်စာ) ကျွေးမွေးကြရမည်။

---

(၁) "ဖရည်ွ" မုချ ဆောက်တည်ရန် တာဝန်ရှိသော ဥပုသ်သီတင်း ဆောက်တည်ရန် အလို့ငှါ၊ အလ္လာဟ်အရှင်မြတ်သည် ရမသွန်လကို အတိအကျသတ်မှတ်ထားတော်မူပေရာ မည်သူမျှမိမိအာသာ ဆန္ဒအလျောက် အခြားသောနေ့ရက်များတွင် ဥပုသ်ဆောက်တည်နိုင်ခွင့်မရှိချေ။ သို့ဥပုသ်ဆောက်တည်ရန်အတွက် ရမသွာန်လကို သတ်မှတ်ထားခြင်းဖြင့် ကမ္ဘာ့အဝှန်းရှိမွတ်စ်လင်မ် များတွင် ဥပုသ်ဆောက်တည်ရာ၌ ညီညွတ်မှု တရပ်သည် အလိုအလျောက်ဖြစ်ပေါ်လျက်ရှိပေသည်။

အလ္လာဟ်အရှင်မြတ်သည် လူသားတို့၏လွယ်ကူမှုကိုသာ အလိုတော်ရှိသည် ။ ခဲယဉ်းမှုကိုကား လိုလားတော်မမူချေ။ အလိုတော်မရှိပေ။ကြည့် - ကုရ်အာန် (၂း၁၈၅)။ သို့အတွက်ကြောင့် ထိုအရှင်မြတ်သည် လူသားတို့ ဥပုသ်ဆောက်တည်နိုင်ရန်အတွက် တနှစ်လုံးတွင် တလ(ဝါ)ရက်ပေါင်း ၂၉ ၊သို့မဟုတ် ၃၀မျှကိုသာ သတ်မှတ်ထားတော်မူသည်။ဤကား အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ပင်တည်း။

(၂) မကျန်းမမာဖြစ်နေသောသူများသည် သတ်မှတ်ထားသောနေ့ရက်များတွင် ဥပုသ်မဆောက်တည်နိုင်သော် ထိုသူတို့အဖို့ အခြားသောနေ့ရက်များတွင် ဥပုသ်ဆောက်တည်ပိုင်ခွင့်ကို အလ္လာဟ်အရှင်မြတ်သည် ခွင့်ပြုထားတော်မူသည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ပင်တည်း။

**ဓမ္မသတ်** ။ ။ ရောဂါသည်တဦးအဖို့ ဥပုသ်ရက် ရွှေ့ဆိုင်းဆောက်တည်ရန် အခွင့်သည် ဥပုသ်ဆောက်တည်ခြင်းဖြင့် ရောဂါသည်၏ ရောဂါတိုးလာခြင်းအပေါ်၌ တည်ရှိပေသည်။ အကယ်၍ ဥပုသ်ဆောက်တည်ခြင်းဖြင့် နစ်နာဆုံးရှုံးမှုကို မစိုးရိမ်ရလျှင် ထိုရောဂါသည် သည် ဥပုသ်ဆောက်တည်ရပေမည်။ ဤအချက်၌ ဓမ္မသတ်ရှင်များသည် အဆိုညီကြသည်။

③ မကျန်းမမာသောသူများသည် သတ်မှတ်ထားသော နေ့ရက်များအစား အခြားသော နေ့ရက်များတွင် ရွှေ့ဆိုင်း၍ ဥပုသ်ဆောက်တည်နိုင်သကဲ့သို့ ခရီးသည်များသည်လည်း အခြားသောနေ့ရက်များတွင် ရွှေ့ဆိုင်းပြီး ဥပုသ်ဆောက်တည်နိုင်သည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ပင်တည်း။

**ဓမ္မသတ်**

ဥပုသ်ဆောက်တည်ခြင်းကို ရွှေ့ဆိုင်းခွင့် ရရှိနိုင်ရန်အတွက် ခရီးကိုသတ်မှတ်ရာတွင် ဓမ္မသတ်ရှင်များသည် အဆိုကွဲပြားလျက်ရှိကြသည်။

ကျွန်ုပ်တို့၏ (ဟနဖီဂိုဏ်းဝင်) ဓမ္မသတ်ရှင်များက (ဥပုသ်ဆောက်တည်ခြင်းကို ရွှေ့ဆိုင်းနိုင်ရန်) ခရီးမှာ သုံးနေ့နှင့်သုံးညဥ့် ခရီးဟူ၍ဆိုကြသည်။ အချို့က နှစ်နေ့ခရီးဟူ၍၎င်း၊ အချို့က တနေ့ခရီးဟူ၍၎င်း ဆိုသည်။ (ဂျဆ္စ်ဆွာဆ်)

ခရီးနှင့်စပ်လျဉ်း၍ ဓမ္မသတ်အကျယ်ကို ဟိဒါယဟ်ကျမ်းတွင် ရှုပါကုန်။

④ (يطيقون) ဟူသောပုဒ်သည် (طاقة) ဟူသောပုဒ်မှ ဆင်းသက်လာသည်။ထိုပုဒ်၏အနက်မှာ အောက်ပါအတိုင်းဖြစ်သည်။

"တွာကတ်"ဟူသောစကားသည် လူသားတို့ခဲယဉ်းစွာဖြင့် ပြုရသောကိစ္စကိုဆိုလိုသည်။(ရာဃိဗ်)

ဤအနက်ကိုရှေ့ရှု၍ အဌကထာရှင်များသည် ဤမုက္ခပါဌ်တော်ကို အောက်ပါအတိုင်း အနက်ဖွင့်ကြသည်။

"အကြင်သူများသည် ပင်ပန်းကြီးစွာနှင့် ခဲယဉ်းစွာဥပုသ်ဆောက်တည်ကြကုန်၏။"(ကဗီရ်)

ခဲယဉ်းစွာဖြင့် ဥပုသ်ဆောက်တည်သူများကား အဘယ်သူများနည်း။

ခဲယဉ်းစွာဖြင့် (ဥပုသ်ဆောက်တည်သူများကား) အဘိုးအိုအမယ်အိုများတည်း။

(ခဲယဉ်းစွာဖြင့် ဥပုသ်ဆောက်တည်သူများတွင်) ကိုယ်ဝန်ဆောင်အမျိုးသမီးများနှင့် နို့တိုက်ကျွေးလျက်ရှိသော သားသည်အမေများလည်း အပါအဝင်ဖြစ်ပေသည်။ (ရှုဟ်)

**ဖေါ်ပြချက်**

အချို့အဌကထာရှင်များက ဤမုက္ခပါဌ်တော်သည် "မန်စူခ်" ပလပ်သွားပြီဟု ယူဆကြသည်။ (အမှန်သော်ကား။ဤမုက္ခပါဌ်တော်သည် ပလပ်သွားပြီမဟုတ် တည်လျက်ပင်ရှိချေသည်။)

**သာဓကေ**

(က) အဂ္ဂသာဝကကြီး အဗ်ဒုလ္လာဟ် အီဗ်နအဗ္ဗါစ်က (မိန့်ကြားသည်မှာ) ဤမုက္ခပါဌ်တော်သည် ပလပ်သွားပြီမဟုတ်။ (ခဲယဉ်းစွာဖြင့် ဥပုသ်ဆောက်တည်သောသူများမှာ) ဥပုသ်ဆောက်တည်နိုင်စွမ်းမရှိသော အဘိုးအိုနှင့် အမယ်အိုများကိုဆိုလိုသည်။ (အီဗ်နကဆီရ်)

(ခ) ခဲယဉ်းစွာဖြင့် ဥပုသ်ဆောက်တည်သောသူများသည် (ဥပုသ်တနေ့အစား) ဆင်းရဲသားတဦးကို ထမင်းကျွေးရမည်ဟူသော မုက္ခပါဌ်တော်သည် ပလပ်သွားပြီမဟုတ်။ ခဲယဉ်းစွာဖြင့် ဥပုသ်ဆောက်တည်သူများသည် ဥပုသ်မဆောက်တည်နိုင်သော အဘိုးအိုနှင့် အမယ်အိုများကို ဆိုလိုသည်။ ထိုအဘိုးအို၊ အမယ်အိုများသည် ဥပုသ်မဆောက်တည်နိုင်သော နေ့များတွင် (တနေ့၏အစား ဆင်းရဲသား တဦးကို နေ့စဉ်နေ့တိုင်း ထမင်းကျွေးကြရမည်။) ဤသည်ကား မှန်ကန်သောအဆိုပင်ဖြစ်သည်။ (ကြည့်-ကုရ်တုဗီ) ဥပုသ်မဆောက်တည်နိုင်သော အဘိုးအိုအမယ်အိုများသည် ပျက်ကွက်သော ဥပုသ်တနေ့၏အစား ဆင်းရဲသားတဦးကို ထမင်းကျွေးခွင့်ပြုထားခြင်းသည်လည်း အလ္လာဟ်အရှင်မြတ်၏ မဟာကရုဏာတော်ပင်ဖြစ်၏။

သို့ရာတွင် အကြင်သူသည် မိမိစိတ်စေတနာ အလျောက် တစုံတခုသော ကောင်းမှုကုသိုလ်ကို ပြုလုပ်ခဲ့သည်ရှိသော် ယင်းသို့ပြုလုပ်ခြင်းကား ထိုသူ၏အဘို့အရာ ပို၍ပင် ကောင်းမြတ်ပေသည်။ သို့(ခွင့်ပြုချက် ရှိ)သော်ငြားလည်း အကယ်စင်စစ် အသင်တို့သည် (ဥပုသ်သီလ ဆောက်တည်ခြင်း၏ အကျိုးအာနိသင်တို့ကို ကောင်းမွန်စွာ) သိနားလည်သူများ ဖြစ်ကြပါလျှင် အသင်တို့ အဘို့အရာ ဥပုသ်သီလ ဆောက်တည်ခြင်းသည်သာလျှင် ပို၍ ကောင်းမြတ်(သော အမှု)ပင် ဖြစ်ပေသတည်း။

شَهْرُ رَمَضَانَ الَّذِيٓ أُنْزِلَ
فِيْهِ الْقُرْاٰنُ هُدًى لِّلنَّاسِ
وَبَيِّنٰتٍ مِّنَ الْهُدٰى
وَالْفُرْقَانِ ۚ فَمَنْ شَهِدَ
مِنْكُمُ الشَّهْرَ فَلْيَصُمْهُ ۖ
وَمَنْ كَانَ مَرِيْضًا اَوْ عَلٰى

**၁၈၅။** ("ဆွိယာမ်" ဥပုသ်ဆောက်တည်ရန်အတွက် သတ်မှတ်ထားသည့် အနည်းငယ်မျှသော နေ့ရက်များသည်) ရမသျွာန်လ [1] ပင် ဖြစ်သည်။ (ထိုလ၌ အလ္လာဟ်အရှင်မြတ်အထံတော်မှ) *ကုရ်အာန်ကျမ်းတော်မြတ်သည် ကျရောက်လာခဲ့လေသည်။* [2] (ယင်းကုရ်အာန်ကျမ်းတော်မြတ်သည်) *လူသားခပ်သိမ်းတို့အဘို့ တရားဓမ္မအဖြစ်၎င်း၊* [3] တရားလမ်းမှန်ရစေသော အမှားအမှန်ကို ခွဲခြားသိစေသော ထင်ရှားလှသည့် သက်သေခံလက္ခဏာများ အဖြစ်၎င်း (ကျရောက်လာသောကျမ်းတော်မြတ်ပင်တည်း)။

---

(၁) ရမသျွာန်လမြတ်သည် အစ္စလာမ်သာသနာ၏ လများအနက် နဝမမြောက်လဖြစ်သည်။ ရမသျွာန်ဟူသော ပုဒ်သည် လောင်ကျွမ်းခြင်း အနက်ပေးသော (رمض) ဟူသော စကားမှ ဆင်းသက်လာသည်။

ရမသျွာန်ဟု အမည်မှည့်ခေါ်ရခြင်း အကြောင်းမှာ ယင်းလတွင် ဥပုသ်ဆောက်တည်ခြင်းဖြင့် မွတ်သိပ်ဆာလောင်သည်ကို အကြောင်းပြု၍သော်လည်းကောင်း၊ ဥပုသ်ဆောက်တည်ခြင်းဖြင့် အပြစ်ဒုစရိုက်များ လောင်ကျွမ်းသွားသည်ကို အကြောင်းပြု၍သော်လည်းကောင်း၊ သို့တည်းမဟုတ် အတိတ်ခေတ်စာပေများမှ လများ၏အမည်နာမများကို ကူးပြောင်းရေးသားရာ၌ ဤရမသျွာန်လသည် ပူပြင်းသော ဥတုရာသီနှင့် တိုက်ဆိုင်နေသည်ကို အကြောင်းပြု၍သော်လည်းကောင်း၊ ရမသျွာန်ဟူ၍ အမည်နာမမှည့်ခေါ်ခြင်း ဖြစ်တန်ရာသည်။

(ကြည့်၊ ကာမူစ်အဘိဓါန်ချုပ်နှင့် တဖ်စီရ်အဇီဇအ္ဒဒ်။)

အစ္စလာမ်သာသနာသည် နေ့ရက်များကိုသတ်မှတ်ရာတွင် နေကို အကြောင်းမပြုဘဲ "လ" ➢➢

➤➤ ကိုသာ အကြောင်းပြု၍ သတ်မှတ်ထားသည်။ ရမသ္ဇာန်လသည် ဥတုရာသီပြောင်းသည်နှင့်အမျှ ပြောင်းလွဲလျက်ရှိပေသည်။ ဤသို့အားဖြင့် မွတ်စ်လင်မ်များသည် ရမသ္ဇာန်လဖြစ်သော ဥတုရာသီတိုင်းတွင် ဥပုသ်ဆောက်တည်ကြရသည်။

အစ္စလာမ် သာသနာသည် ဥပုသ် ဆောက်တည်ရန်အတွက် "လ" ကို သတ်မှတ်ထားပေရာ၊ ကမ္ဘာ့အဝှန်းရှိ မွတ်စ်လင်မ်များသည် တညီတညွတ်တည်း ရမသ္ဇာန်လ၌ပင် ဥပုသ်ဆောက်တည်ကြရပေသည်။

(၂) ကုရ်အာန်ကျမ်းမြတ်သည် နဗီတမန်တော်မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အပေါ်၌ အလ္လာဟ် အရှင်မြတ်အထံတော်မှ ထုတ်ပြန်ပို့ချတော်မူသော ကျမ်းဂန်၏အမည်ဖြစ်သည်။

"ကုရ်အာန်" ဟူသောပုဒ်၏ မူရင်းအဓိပ္ပါယ်မှာ စုပေါင်းခြင်း၊ ရွတ်ဖတ်သရဇ္ဈာယ်ခြင်းဟူ၍ ဖြစ်သည်။

ကြည့်၊ ကုရ်အာန် - (၇၅ ။ ၁၇-၁၈)

ကုရ်အာန်ကျမ်းမြတ်ကို ကုရ်အာန်ဟူ၍အမည်မှည့်ခေါ်ရခြင်း၏အကြောင်းမှာ ကုရ်အာန်ကျမ်းမြတ်သည် စုပေါင်းခြင်းတည်းဟူသော အဓိပ္ပါယ်နှင့်အညီ၊ အတိတ်ခေတ်ရှိ ကျမ်းဂန်အသီးသီးတို့၌ပါရှိသော အနှစ်သာရများကို ထိုကျမ်းဂန်တော်၌ စုပေါင်းထားခြင်းကြောင့်လည်းကောင်း၊ ကမ္ဘာ့ပညာအရပ်ရပ်၏ အဆီအနှစ်များကို စုပေါင်းထားခြင်းကြောင့်လည်းကောင်း၊ ကုရ်အာန်ဟူ၍ အမည်မှည့်ထားခြင်းဖြစ်သည်။ ကြည့် (ရာဃိဗ်)

ကုရ်အာန်ကျမ်းမြတ်သည် ရွတ်ဖတ်သရဇ္ဈာယ်ခြင်းတည်းဟူသော အနက်ကို ဆောင်ထားသည်နှင့်အညီ၊ ကုရ်အာန်ကျမ်းမြတ်သည် ကမ္ဘာ့ကျမ်းဂန်များတွင် အများဆုံးရွတ်ဖတ်ရသော ကျမ်းတော်ကြီးပင်ဖြစ်သည်။

ကုရ်အာန်ကျမ်းမြတ် ကျရောက်ခြင်းအကြောင်းနှင့် စပ်လျဉ်း၍ အဋ္ဌကထာရှင်များသည် အောက်ပါအတိုင်း အမျိုးမျိုးယူဆကြသည်။

ကုရ်အာန်ကျမ်းမြတ်သည် ရမသ္ဇာန်လ "ကဒ်ရ်" ညဉ့်၌ စတင်ကျရောက်လာသည်။ အချို့က ကုရ်အာန်ကျမ်းမြတ်သည် ထိုရမသ္ဇာန်လ၌ (ပဌမဆုံး) မိုးထပ်သို့ အစအဆုံးကျရောက်ပြီး၊ ထိုမှတဆင့် တဖြည်းဖြည်း (လိုသမျှ) တမန်တော်ထံသို့ ကျရောက်သည်ဟု ယူဆသည်။ အချို့ အဋ္ဌကထာရှင်များကမူ ( أُنْزِلَ فِيْهِ الْقُرْاٰنُ ) ဟူသော မုကဒ္ဒပါဌ်တော်အနက်ကို ကုရ်အာန်ကျမ်းမြတ်သည် ထို(ရမသ္ဇာန်)လ အကြောင်းနှင့် စပ်လျဉ်း၍ ကျရောက်လာသည်ဟူ၍ အနက်ဖွင့်ကြသည်။

အထက်ဖော်ပြပါအဆိုသုံးရပ်အနက် ပဌမအဆိုကို အများအဋ္ဌကထာရှင်များ ပိုမို၍နှစ်သြိုက်ကြပေသည်။

(ကြည့်၊ အိဗ်နုဟိရာမ်)။

**<u>ကုရ်အာန်နှင့် ရမသ္ဇာန်</u>**

ကုရ်အာန်ကျမ်းမြတ်နှင့် ရမသ္ဇာန်လတို့သည် အချင်းချင်းဆက်စပ်နေ၏။ ကမ္ဘာ့အဝှန်းရှိ မွတ်စ်လင်မ်တို့သည် နေ့စဉ်နေ့တိုင်း ဆွလာတ်ဝတ်ပြုရာတွင် နည်းများမဆို ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်သရဇ္ဈာယ်ကြသည်။ သို့ရာတွင် ရမသ္ဇာန်လမြတ်တွင် "တရာဝီဟ်" ဆွလာတ်ဝတ်ပြုရာ၌ ကုရ်အာန်ကျမ်းမြတ်ကို အစမှအဆုံးတိုင် အထူးသဖြင့် ရွတ်ဖတ်သရဇ္ဈာယ်ကြ၏။

(၃) အလ္လာဟ်အရှင်မြတ်သည် ခပ်သိမ်းကုန်သော လူသားတို့နှင့် သက်ရှိသက်မဲ့ အရာအားလုံးတို့ကို မွေးမြူဖန်ဆင်းတော်မူသောအရှင်ဖြစ်ပေသည်။ နဗီတမန်တော်မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အရဗ်လူမျိုး တမျိုးတည်းအတွက် ပွင့်လာတော်မူသည်မဟုတ်၊ ခပ်သိမ်းကုန်သော လူသားတို့အတွက် ပွင့်တော်မူသည်။

[ကြည့်၊ ကုရ်အာန် (၇း၁၅၈၊ ၂၁း၁၀၇)]

မွတ်စ်လင်မ် များသည်လည်း ကမ္ဘာသူ၊ကမ္ဘာသားများ၏အကျိုးကို ဆောင်ကြဉ်းသူများသာ ➤➤

سَفَرٍ فَعِدَّةٌ مِّنْ أَيَّامٍ أُخَرَ ۗ يُرِيدُ اللَّهُ بِكُمُ الْيُسْرَ وَلَا يُرِيدُ بِكُمُ الْعُسْرَ وَلِتُكْمِلُوا الْعِدَّةَ وَلِتُكَبِّرُوا اللَّهَ عَلَىٰ مَا هَدَاكُمْ وَلَعَلَّكُمْ تَشْكُرُونَ ﴿١٨٥﴾

သို့ဖြစ်လေရာ အသင်တို့အနက်မှ မည်သူမဆို ထို(ရမသွာန်)လမြတ်နှင့် ကြုံကြိုက်ခဲ့ပါလျှင် ထိုသူသည် *ယင်းလမြတ်၌ (တလပတ်လုံး) ဥပုသ်သီတင်းဆောက်တည်ရပေမည်။* [၁] သို့ရာတွင် အကြင်သူတဦးတယောက်သည် တစုံတရာ ဝေဒနာစွဲကပ်၍ မကျန်းမမာဖြစ်ခဲ့သော်၊ သို့တည်းမဟုတ် ခရီးထွက်လျက်ရှိနေခဲ့သော် ထိုသူ့အပေါ်ဝယ် အခြားသောနေ့ရက်များတွင် (မိမိပျက်ကွက်ခဲ့သော ဥပုသ်ရက်များကို) တွက်စစ်၍ (ဖြည့်စွက်)ဆောက်တည်ရန် တာဝန်ရှိပေသည်။ အလ္လာဟ် အရှင်မြတ်သည် အသင်တို့အတို့ *သက်သာချောင်ချိမှုကို အလိုရှိတော်မူပေသည်။* [၂] အသင်တို့အတို့ ခက်ခဲမှုကိုကား (အလျှင်း) လိုလားတော်မူသည် မဟုတ်ချေ။ ထို့ပြင်တဝ (အလ္လာဟ်အရှင်မြတ်သည်) အသင်တို့ (ပျက်ကွက်ခဲ့သော နေ့ရက်) အရေအတွက်ကို ပြည့်စုံအောင်ပြုစေရန်၎င်း၊ အလ္လာဟ်အရှင်မြတ်အား ထိုအရှင်မြတ်ညွှန်ပြတော်မူသော နည်းလမ်းအတိုင်း ကြီးကဲမြင့်မြတ်တော်မူကြောင်း ရွတ်ဆိုကြရန်၎င်း (အလိုဆန္ဒ ရှိတော်မူသည်)၊ သို့မှသာလျှင် အသင်တို့သည် (ထိုအရှင်မြတ်၏) ကျေးဇူးကို သိသောသူများ ဖြစ်ကြရာသည်။

---

➤➤ ဖြစ်ချေသည်။ ကြည့်၊ ကုရ်အာန်(၃း၁၁၀)

ဤကုရ်အာန်ကျမ်းမြတ်သည်လည်း အရဗ်လူမျိုးများကိုသာ လမ်းမှန်ညွှန်ပြသော တရားကျမ်းဂန် မဟုတ်ပေ။ "ခပ်သိမ်းကုန်သော လူသားတို့အား တရားဓမ္မ ဟောညွှန်ပြသောကျမ်းဂန် ဖြစ်ပေသည်။

ဤသို့အားဖြင့် အလ္လာဟ်အရှင်မြတ်သည်၎င်း၊ နဗီတမန်တော်မုဟမ္မဒ်(ဆွ)သည်၎င်း၊ ကုရ်အာန်ဓမ္မကျန်သည်၎င်း၊ ကမ္ဘာ့အဝှန်းရှိ မွတ်စ်လင်မ်များသည်၎င်း၊ စကြာဝဠာအပေါင်း၏အကျိုးကို သယ်ပိုးလျက် ရှိသည်မှာ ထင်ရှားလှပေသည်။

(၁) ဥပုသ်ဆောက်တည်မှုနှင့် စပ်လျဉ်း၍ "အသင်တို့အနက် (ရမသွာန်)လမြတ်နှင့် ကြုံကြိုက်သောသူများသည် ထိုလမြတ်၌ ဥပုသ်ဆောက်တည်ရမည်"ဟု ကုရ်အာန်ကျမ်း၌ ပါရှိ၏။ ရမသွာန်လမြတ်သည် ဥပုသ် ➤➤

وَإِذَا سَأَلَكَ عِبَادِي عَنِّي فَإِنِّي قَرِيبٌ أُجِيبُ دَعْوَةَ الدَّاعِ إِذَا دَعَانِ فَلْيَسْتَجِيبُوا

**၁၈၆။** ထို့ပြင်တပ‌ [အို-နဗီတမန်တော်မုဟမ္မဒ်(ဆွ)] ငါအရှင်မြတ်၏ကျွန်များသည် ငါအရှင်မြတ်နှင့် ပတ်သက်၍ အသင့်ထံ မေးမြန်းကြသောအခါဝယ် (အသင်သည် ဤကဲ့သို့ ဖြေကြားပါလေ) မုချဧကန် ငါအရှင်မြတ်သည် (ယင်းသူတို့နှင့်) နီးကပ်စွာပင် ရှိတော်မူ၏။ ၁

---

➤➤ ဆောက်တည်ရေးနှင့် ဆက်စပ်လျက်ရှိပေသည်။ သို့ရာတွင် ကမ္ဘာလောက၏ အချို့သောဒေသများ၌ နေသည် အချိန်များစွာ ထွက်သည်မရှိ၊ နေထွက်ပြန်သည်ရှိသော်လည်း အချိန်များစွာဝင်သည်မရှိ၊ (ဥပမာ၊ ဥတ္တရယဉ်စွန်းနှင့် ဒက္ခိဏယဉ်စွန်းအလွန်၌ ရှိသောဒေသများ အာတိတ်နှင့် အန္တာတိတ် စက်ဝိုင်းအတွင်းရှိ အရပ်ဒေသများဖြစ်၏။) ထိုသို့သောဒေသများ၌ လကို ကြည့်၍ နေ့ရက်၊ လ များကို မသတ်မှတ်နိုင်သည့်အတွက် ရမသွာန်လ ဥပုသ်ဆောက်တည်ရန် ပြဿနာမပေါ်နိုင်ချေ။ သို့ပင်ဖြစ်သော်လည်း အကယ်၍ ထိုသို့သောဒေသရှိ မွတ်စ်လင်မ်များသည် မိမိတို့စေတနာ အလျောက် ဥပုသ်ဆောက်တည်လိုပါက မိမိတို့ဒေသ၌ လုပ်ကိုင်စားသောက် သွားလာရန်အတွက် သတ်မှတ်ထားသော အချိန်များကို တွက်ဆပြီး ဥပုသ်ဆောက်တည်လိုက ဆောက်တည် နိုင်ပေသည်။ ကြည့်-မာဂျိဒီ (အ-၁။ စ-၇၀။ အအ-၆၆၄။)

(၂) ကုရ်အာန်ကျမ်းမြတ်တွင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အဘို့ လွယ်ကူမှုကိုသာ လိုလားတော်မူ၍ ခက်ခဲမှုကိုကား အလျင်း လိုလားတော်မမူဟု မိန့်ဆိုထားတော်မူသည်နှင့် အညီ အစ္စလာမ်သာသနာ၏ ပဋိပတ်ကျင့်စဉ် အရပ်ရပ်တွင် လွယ်ကူမှုကိုသာ တွေ့ရှိပေသည်။

အစ္စလာမ်သာသနာသည် လိုက်နာကျင့်သုံးသောသူများ၏ အခြေအနေ၊ အသက်အရွယ်၊ ကျန်းမာရေး၊ ပတ်ဝန်းကျင်နှင့် တွေ့ကြုံရမည့်အခက်အခဲများကို အမြဲတစေရှေးရှုပေရာ အစ္စလာမ်သာသနာ၏ ကျင့်စဉ်ကျင့်ရပ် များကို လက်တွေ့ လိုက်နာကျင့်သုံးရာတွင် ဘယ်သောအခါမျှ အခက်အခဲ မတွေ့ရှိရပေ။ ဥပမာအားဖြင့် ဤ ဥပုသ် ဆောက်တည်မှုကိုပင် ဆင်ခြင်ကြပါကုန်။ အစ္စလာမ် သာသနာသည် ဥပုသ် ဆောက်တည်မှုတွင် မကျန်းမာသောသူများ၊ ခရီးသည်များ၊ အိုမင်းမစွမ်းသောအဘိုးအို၊ အမယ်အိုများ၊ ကိုယ်ဝန်ဆောင် အမျိုးသမီးများနှင့် နို့တိုက်ကျွေးလျက်ရှိသော သားသည်အမေများအဘို့ အမျိုးမျိုးသော လွယ်ကူမှုများကို ပြဋ္ဌာန်းထားသည်မှာ အထင်အရှားပင် မဟုတ်ပါလော။ ဖော်ပြပါ အကြောင်းများကြောင့် နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ကိုယ်တော်တိုင်ကပင် အလ္လာဟ်အရှင်မြတ်၏ သာသနာတော်သည် လွယ်ကူလှပေသည်" ဟူ၍ ၎င်း၊ "အသင်တို့သည် လွယ်ကူအောင်ပြုလုပ်ကြကုန်၊ ခဲယဉ်းအောင် မပြုကြကုန်လင့်၊ ကောင်းချီး သတင်းကိုပေးကြကုန်၊ စက်ဆုတ်ဘွယ်အမှုကို မပြုကြကုန်လင့်" ဟူ၍၎င်း မိန့်ကြားတော်မူခဲ့သည်။

(၁) "ငါအရှင်မြတ်သည် အနီး၌ ရှိတော်မူ၏" ဟု မိန့်ဆိုထားခြင်းမှာ အလ္လာဟ်အရှင်မြတ်သည် လူသားတို့ ပြုလုပ်သမျှသော အပြုအမူများနှင့် ပြောဆိုသမျှသော စကားများကို အကြွင်းမရှိ ကောင်းစွာ သိတော်မူခြင်း၊ ယင်းသူတို့အဖြစ် အပျက်များကို သိရှိတော်မူခြင်းတို့ကို ဥပစာအားဖြင့် မိန့်ဆိုထားခြင်းပင်ဖြစ်သည်။

ဖော်ပြပါ သဘောတရားကိုပင် ကုရ်အာန်ကျမ်းမြတ် (၅၀း၁၆။ ၅၇း၄။၅၈း၇) တွင် ရှင်းလင်းစွာ မိန့်ဆိုထားသည်။

لِيْ وَلْيُؤْمِنُوْا بِيْ لَعَلَّهُمْ يَرْشُدُوْنَ ﴿١٨٦﴾

ငါအရှင်သည် ဆုတောင်း ပတ္ထနာ ပြုသူ၏ ဆုတောင်း ပတ္ထနာပြုချက်ကို သဘောတူလက်ခံတော်မူ၏။ သို့ဖြစ်လေရာ ယင်းသူတို့သည် *ငါအရှင်မြတ်၏အမိန့်တော်များကိုလက်ခံနာယူ၍* [1] ငါအရှင်မြတ်ကိုသာ ယုံကြည်မြတ်နိုးကြရမည်။ သို့မှသာလျှင် ယင်းသူတို့သည် ဖြောင့်မတ် မှန်ကန်သော တရားလမ်းကို ရရှိကြသူများဖြစ်တန်ရာ၏။

اُحِلَّ لَكُمْ لَيْلَةَ الصِّيَامِ الرَّفَثُ اِلٰى نِسَآئِكُمْ ۭ هُنَّ لِبَاسٌ لَّكُمْ وَاَنْتُمْ لِبَاسٌ لَّهُنَّ ۭ عَلِمَ اللّٰهُ اَنَّكُمْ كُنْتُمْ تَخْتَانُوْنَ

**၁၈၇။** (အို-မွတ်စ်လင်မ်အပေါင်းတို့၊ အလ္လာဟ်အရှင်မြတ်သည်) အသင်တို့အတွက်ရာ ဥပုသ်နေ့၏ညဉ့်၌ မိမိတို့ဇနီးမိန်းမများနှင့် *သံဝါသပြုခြင်းကို* [2] ခွင့်ပြုတော်မူလေပြီ။ ယင်းဇနီးမိန်းမများသည် အသင်တို့အတွက်ရာ (အရှက်အိန္ဒြေကို လုံခြုံစွာဖုံးကွယ်သော) *ဝတ်စားတန်ဆာများ(ကဲ့သို့) ဖြစ်ကြ၏။* [3] ထိုနည်းတူစွာ အသင်တို့သည်လည်း ထိုဇနီးမိန်းမများအတွက်ရာ (အရှက်အိန္ဒြေကို လုံခြုံစွာဖုံးကွယ်သော) ဝတ်စားတန်ဆာများ(ကဲ့သို့)ပင် ဖြစ်ကြလေသည်။

---

(၁) မိမိတို့၏ ကြီးလေးသော ကိစ္စများနှင့် စပ်လျဉ်း၍ လူသားတို့၏ တောင်းဆိုသော ဆုများကို ငါအရှင်ဖြည့်ပေးတော်မူသကဲ့သို့ ငါအရှင်သည် ယင်းသူတို့အား ယုံကြည်ခြင်းသဒ္ဓါတရား ထားရှိရန်နှင့် အမိန့်တော်နာခံရန် အလို့ငှါ မိန့်ကြားသည်ကိုလည်း ယင်းသူတို့သည် နာခံကြရပေမည်။

(၂) "ရဖဆ်" ဟူသောပုဒ်သည် မေထုန်မှုနှင့် စပ်လျဉ်း၍၎င်း၊ မေထုန်မှီဝဲမှုကို လှုံ့ဆော်ခြင်းနှင့် စပ်လျဉ်း၍၎င်း ရှက်ဘွယ်ရာဖြစ်သော စကားကိုဆိုသည်။ ထို့နောက် အရဗီစာပေ ဝေါဟာရတွင် ယင်းပုဒ်ကို မေထုန်မှီဝဲခြင်း အဓိပ္ပါယ်၌ တင်စား၍ အသုံးပြုကြသည်။ ကြည့်-(ရာဃိဗ်)။ အဋ္ဌကထာရှင်များလည်း ဤနေရာ၌ ဤအနက်ကိုပင် ကောက်ယူကြသည်။

ဟဟူဒီဘာသာ၌ ဥပုသ်ဆောက်တည်ခြင်းနှင့် စပ်လျဉ်း၍ သတ်မှတ်ထားသော ပညတ်များသည် အလွန်ပြင်းထန်လှ၏။ ဥပမာ အကြင်သူတစ်ယောက်သည် ညနေအချိန်ဥပုသ်ထွက်၍ အိပ်ပျော်သွားသည်ရှိသော် ထိုသူသည် အိပ်ရာမှ နိုးလာသောအခါ၌ အဘယ်တစ်စုံတစ်ရာကိုမျှ စားသုံးပိုင်ခွင့်မရှိ။ ထို့အတူ ဥပုသ်ဆောက်တည်စဉ် နေ့ညဉ့်မခြား မေထုန်မှီဝဲခွင့်လည်းမရှိ။

အစ္စလာမ်သာသနာတော်ထွန်းကား၍ ဥပုသ်ဆောက်တည်ရန် အမိန့်တော်ကျရောက်လာသောအခါ၊ မွတ်စ်လင်မ် တို့သည်လည်း မိမိတို့၏ စိတ်စေတနာ အလျောက် ယဟူဒီများကဲ့သို့ ဆွဲယာမ်ဥပုသ် ➢➢

اَنۡفُسَكُمۡ فَتَابَ عَلَيۡكُمۡ وَعَفَا عَنۡكُمۡ‌ۚ فَالۡـٰٔنَ بَاشِرُوۡهُنَّ وَابۡتَغُوۡا مَا كَتَبَ اللّٰهُ لَـكُمۡ‌ وَكُلُوۡا وَاشۡرَبُوۡا حَتّٰى يَتَبَيَّنَ لَـكُمُ الۡخَـيۡطُ الۡاَبۡيَضُ مِنَ الۡخَـيۡطِ الۡاَسۡوَدِ مِنَ الۡفَجۡرِ‌

အသင်တို့သည် (ဤအမိန့်မကျရောက်မီ ညဥ့်များ၌ မိမိတို့ဇနီးမိန်းမများနှင့် ပုန်းလျှိုး၍ သံဝါသပြုခြင်း အားဖြင့်) မိမိတို့ကိုယ်ကို မိမိတို့ပင် လှည့်စားလျက် ရှိနေခဲ့ကြသည်ကို အလ္လာဟ် အရှင်မြတ်သည် သိရှိပြီး ဖြစ်တော်မူ၏။ သို့ပင်တစေ ထို အရှင်မြတ်သည် အသင်တို့အပေါ်ဝယ် ကရုဏာတော်ဖြင့် ပြန်လှည့်တော်မူ၍ အသင်တို့ (ပြုခဲ့ပြီးဖြစ်သော အပြစ်တို့) ကို ခွင့်လွှတ်တော်မူပြီး (နောင်အခါတို့လည်း ဇနီးမိန်းမများနှင့် ဥပုသ်နေ့၏ညဥ့်များတွင် သံဝါသပြုရန် ခွင့်ပြုထားတော်မူလေပြီ)။

---

➤➤ ဖြေပြီးသည့်အချိန်မှ ညဥ့်အိပ်စက်သည့်အချိန်ထိ စားခြင်း၊ သောက်ခြင်း၊ မေထုန်မှီဝဲခြင်းကိစ္စတို့ကို မပြုလုပ်ပိုင်သော ကိစ္စများဟူ၍ ယူဆကာ ရှောင်ကြဉ်လျက်ရှိခဲ့ကြကုန်၏။

တနေ့သောအခါ အဂ္ဂသာဝကကြီး "အုမရ်" သည် အိပ်စက်ပြီးသည့်နောက်တွင် မိမိဇနီးနှင့် မေထုန်မှီဝဲမှုပြုမိသဖြင့် နဗီတမန်တော်မဟမ္မဒ် (ဆွ)ထံ လာရောက်၍ မိမိ၏အဖြစ်အပျက်ကို လျှောက်ထားလေ၏။ ထိုအခိုက်တွင် အချို့သောသာဝကကြီးများက ကျွန်တော်မျိုးတို့သည်လည်း မိမိတို့၏ဇနီးများနှင့် မေထုန်မှီဝဲမှုကို ပြုမိခဲ့ကြပါသည်ဟု အသီးသီး လျှောက်ထားကြလေသည်။ ထိုအခါ အလ္လာဟ်အရှင်မြတ် ထံတော်မှ အထက်ပါမုက္ခပါဌ်တော် (၂:၁၈၇) ကျရောက်လာလေသည်။ ကြည့် - အလ်မနာရ်ကျမ်း။

မေထုန်မှီဝဲမှုသည် သဘာဝမွေအလျှောက် မလွှဲမရှောင်သာနိုင်သော ဆက်ဆံမှုတရပ်ပင် ဖြစ်ပေသည်။ ဤဆက်ဆံမှုကို လုံးဝ ပိတ်ပင်တားဆီးထားပါက ကမ္ဘာ့လူထုကြီးတစ်ရပ်လုံးသည် ကမ္ဘာ့ဇာတ်ခုံပေါ်မှ ပျောက်ကွယ်သွားမည်ကို မည်သူငြင်းနိုင်အံ့နည်း။ ထို့အတွက်ကြောင့်ပင် အစ္စလာမ် သာသနာသည် တရားတော်နှင့်အညီ ထိမ်းမြားခြင်းကို ကောင်းမြတ်သော ကျင့်စဉ်တစ်ရပ်အဖြစ် သတ်မှတ်ထားသည်။

⑨ ဤမုက္ခပါဌ်တော် (၂:၁၈၇)တွင် ဇနီးမောင်နှံတို့အား ဝတ်စားတန်ဆာနှင့် ပမာခိုင်း၍ မိန့်ဆိုထားသည်။ သို့ဝတ်စားတန်ဆာနှင့်ပမာ ခိုင်းထားခြင်း၏သဘောမှာ (က) ဝတ်စားတန်ဆာများသည် လူသားတို့၏ အရှက်ကို ဖုံး၍ လုပမှုကို ဖန်တီးသကဲ့သို့ ဇနီးမောင်နှံတို့သည်လည်း အချင်းချင်း တဦး၏ချွတ်ယွင်းချက်ကို တစ်ဦးက ဖုံးကာ တစ်ဦး၏ ကောင်းကျိုးကို တစ်ဦးက သည်ပိုးရမည်ဟူ၍၎င်း၊ (ခ) ဝတ်စား တန်ဆာသည် လူသားတို့အား အပူ၊ အအေးစသည့်တို့မှ ကာကွယ်သည့်အလား ဇနီးမောင်နှံတို့သည်လည်း မိမိတို့ထံ သက်ရောက်မည့် ဘေးဒုက္ခများကို ကာကွယ်၍ တစ်ဦးကိုတစ်ဦး ထိန်းသိမ်းစောင့်ရှောက်ရမည်ဟူ၍၎င်း၊ (ဂ) ဝတ်စားတန်ဆာကို လူသားတို့ခင်မင်သကဲ့သို့ ဇနီးမောင်နှံတို့သည်လည်း အချင်းချင်း နှစ်ကိုယ့်တစ်စိတ် ခင်မင်ရင်းနှီးစွာ ပေါင်းသင်း ဆက်ဆံကြရမည်ဟူ၍၎င်း၊ အချင်းချင်း တစ်ဦးကိုတစ်ဦး ယုံကြည်စိတ်ချရမည်၊ အားထားရမည်ဟူ၍၎င်း အဋ္ဌကထာရှင်များက အသီးသီးအနက်ဖွင့်ကြသည်။



ثُمَّ أَتِمُّوا الصِّيَامَ إِلَى اللَّيْلِ ۚ وَلَا تُبَاشِرُوهُنَّ وَأَنتُمْ عَاكِفُونَ فِي الْمَسَاجِدِ ۗ تِلْكَ حُدُودُ اللَّهِ فَلَا تَقْرَبُوهَا ۗ كَذَٰلِكَ يُبَيِّنُ اللَّهُ آيَاتِهِ لِلنَّاسِ لَعَلَّهُمْ يَتَّقُونَ ﴿١٨٧﴾

သို့အတွက်ကြောင့် ယခုမှစ၍အသင်တို့သည် ထိုဇနီးမိန်းမတို့နှင့် သံဝါသပြုကြ၍ အသင်တို့အဘို့ အလ္လာဟ် အရှင်မြတ် *ပြဋ္ဌာန်းထားတော်မူသော အရာများကို ရှာဖွေကြလေကုန်။* [၁] ထိုမှတပါးတုံ အသင်တို့သည် ချည်မျှင်အနက် (တည်းဟူသော ညဥ့်၏အမှောင်)မှ ချည်မျှင်အဖြူ (တည်းဟူသော) နံနက်မိုးလင်း အရုဏ်တက်ချိန်၏ အလင်းရောင် ပေါ်လွင်ထင်ရှားလာလေသည့် တိုင်အောင် (အစာ အာဟာရများကို) စားသောက်ကြကုန်လော့။ တဖန် အသင်တို့သည် (ယင်းအလင်းရောင်ပေါ်လာသည်မှ နေဝင်၍) ညဥ့်အချိန် (ကျရောက်လာသည့်) တိုင်အောင် အချိန်ပြည့် ဥပုသ်သီလဆောက်တည်ကြ ကုန်လော့။ သို့ရာတွင် အသင်တို့သည် ဗလီ ကျောင်းတော်များတွင် *"အီအ်တိကာဖ်" သီတင်းသုံး နေထိုင်ကြစဉ်အခါ၌* [၂] ထိုဇနီးမိန်းမတို့နှင့် သံဝါသပြုခြင်းကို အလျင်း မပြုကြကုန်လင့်။

---

➤➤ (က) ဇနီးမောင်နှံတို့သည် အချင်းချင်း ကရုဏာတရား ထားရမည့်အကြောင်း၊ ခင်မင်ရင်းနှီးစွာ ဆက်ဆံရမည့်အကြောင်းကို ကုရ်အာန်ကျမ်းမြတ် (၇:၁၈၉။ ၃၀:၂၁) တွင် ထုတ်ဖော်မိန့်ဆိုထားသည်။

(ခ) နဗီတမန်တော် မုဟမ္မဒ် (ဆွ)ကလည်း အသင်တို့အနက် အကောင်းမွန်ဆုံးသောသူသည် မိမိတို့၏ ဇနီးမိန်းမများအပေါ်၌ ကောင်းသောသူများသာ အကောင်းမွန်ဆုံးသူဖြစ်သည်ဟု အတည့်အလင်းဖွင့်ဟ မိန့်ဆိုခဲ့ပေသည်။

(၁) အသင်တို့အဘို့ အလ္လာဟ်အရှင်မြတ် သတ်မှတ်ပြဋ္ဌာန်းထားတော်မူသော အရာဟူသည်ကား သားသမီး ရတနာများကိုဆိုလိုသည်။ ဤကားအများအဋ္ဌကထာရှင်တို့၏ ယူဆချက်တည်း။ (မအာလင်မ်)

သားသမီးသည် ရတနာတပါးဖြစ်၏။ သားသမီးသာလျှင် မိဘတို့၏ကျောထောက်နောက်ခံဖြစ်၏။ သားသမီးများပင် မိဘတို့၏အရိုက်အရာကို ဆက်ခံ၏။ သူမွန်သူမြတ်သည် ကောင်းမြတ်သော သားသမီး ရတနာများကို ရရှိရန် အလ္လာဟ်အရှင်မြတ်ထံ ဆုပန်ကြ၏။

(၂) အစ္စလာမ်ပဋိပတ်တွင် "အီအ်တိကာဖ်" ဟူသည် အလ္လာဟ်အရှင်မြတ်၏အပါးတော်သို့ ချဉ်းကပ်ရန် ရည်မှန်း၍ ဗလီကျောင်းများအတွင်းသို့ သွားရောက်ကာ တရားအားထုတ်နေခြင်းကိုဆိုသည်။ နဗီတမန်တော် မုဟမ္မဒ်(ဆွ)သည် အထူးသဖြင့် ရမဿွာန်လမြတ်၏ နောက်ဆုံး ၁၀ ရက်တွင် အမြဲတစေ အီအ်တိကာဖ် ထိုင်တော် မူလေ့ရှိသည်။ အီအ်တိကာဖ်သည် စွန္နတ် "ကိဖါယဟ်" ဖြစ်သည်။ ရပ်ရွာတွင် တစ်ဦး ➤➤

ဤသည်တို့သည် အလ္လာဟ် အရှင်မြတ် သတ်မှတ်ထား တော်မူသော နယ်နိမိတ်များပင် ဖြစ်ရကား အသင်တို့သည် ထိုနယ်နိမိတ်များ၏အပေါ်သို့ပင် မချဉ်းကပ်ကြကုန်လင့်။ အလ္လာဟ်အရှင်မြတ်သည် ဤနည်းအတိုင်းပင် မိမိအမိန့်ဒေသနာတော်များကို လူခပ်သိမ်းတို့ (သိစိမ့်သောငှါ) ရှင်းလင်းဖော်ပြတော်မူလေသည်။ သို့မှသာလျှင် ယင်းသူတို့သည် ပြစ်မှုဒုစရိုက်တို့မှ ရှောင်ကြဉ်သောသူများ ဖြစ်တန်ကြရာကုန်သတည်း။

وَلَا تَأْكُلُوْٓا اَمْوَالَكُمْ بَيْنَكُمْ بِالْبَاطِلِ وَتُدْلُوْا بِهَآ اِلَى الْحُكَّامِ لِتَأْكُلُوْا فَرِيْقًا مِّنْ اَمْوَالِ النَّاسِ بِالْاِثْمِ وَاَنْتُمْ تَعْلَمُوْنَ ﴿١٨٨﴾

**၁၈၈။** အသင်တို့သည် မိမိတို့အချင်းချင်း တစ်ဦး၏ ပစ္စည်းကို တစ်ဦးက မတရားသောနည်းဖြင့် မစားသုံးကြကုန်လင့်။ ထို့ပြင်တ၀ အသင်တို့သည် သူတပါးတို့၏ ဥစ္စာ ပစ္စည်းများအနက် တစ်စိတ်တစ်ဒေသကို မတရားသောနည်းဖြင့် စားသုံးရန်အလို့ငှါ (တန်ဆိုးလက်ဆောင်အဖြစ်ဖြင့်) အာဏာပိုင်မင်းများထံသို့ ယင်းပစ္စည်းများကို မပို့ဆောင်ကြကုန်လင့်။ ထိုသို့ပြုလုပ်ခြင်းများသည် မတရားသောအကျင့်အကြံများ ဖြစ်သည်ကိုလည်း အသင်တို့အသိပင်ဖြစ်ကြပေသည်။

---

➤➤ တစ်ယောက်မျှ အီအ်တိကာဖ် မထိုင်သော် တစ်ရွာလုံးအပြစ်သင့်မည်။ တစ်ဦးတစ်ယောက်တည်းပင် အီအ်တိကာဖ်ထိုင်သည်ရှိသော် တစ်ရွာလုံး၏ တာ၀န်ကျေသည်။

ရမသွာန်လ၌ဖြစ်စေ၊ အခြားလများ၌ဖြစ်စေ၊ အီအ်တိကာဖ်ထိုင်ရာတွင် ဆွမ်ယာမ်ဥပုသ်ဆောက်တည်ခြင်းသည် မုချ လိုက်နာပြုကျင့်အပ်သော စည်းကမ်းချက်တစ်ရပ်ဖြစ်သည်။ အီအ်တိကာဖ်ထိုင်သောအခါ၌ မေထုန်မှီ၀ဲခြင်းမပြုရ၊ ဗလီကျောင်းတွင်းမှ အပြင်သို့ အကြောင်းမဲ့မထွက်ရ။ အမျိုးသမီးများသည် မိမိတို့နေအိမ်တွင် ၀တ်ပြုရန်အတွက်သတ်မှတ်ထားသောနေရာ၌ အီအ်တိကာဖ် ထိုင်ကြရသည်။

အီအ်တိကာဖ်နှင့် စပ်လျဉ်းသော အခြားအသေးစိတ် အချက်အလက်များကို “ဖစ်က်ဟ်” ဓမ္မသတ်ကျမ်းများတွင် ရှုပါကုန်။

**<u>ဆက်စပ်မှု</u>**

ကုရ်အာန်ကျမ်းမြတ် (၂း၁၈၃–၁၈၇)တွင် ဆွမ်ယာမ်ဥပုသ်ဆောက်တည်ရမည့်အကြောင်း မိန့်ဆိုထား၏။ လာလတ္တံ့သော မုက္ခပါဌ်တော် (၂း၁၈၈)တွင် သူတပါး၏ပစ္စည်းကို မတရားသဖြင့် မစားသုံးရမည့် ➤➤

يَسْـَٔلُونَكَ عَنِ الْأَهِلَّةِ ۖ قُلْ هِيَ مَوَاقِيتُ لِلنَّاسِ

၁၈၉။ (အို-နဗီတမန်တော်) အချို့သူများသည် ဆန်းဦးစ -လ-များနှင့် စပ်လျဉ်း၍ အသင့်ထံ လာရောက်မေးမြန်းကြသည်၊ အသင်သည် (ထိုသူတို့အား ဤသို့)ဖြေကြားပါလော။ [၁]

---

➢➢ အကြောင်း မိန့်ဆိုထား၏။ ဤသို့ ရှေ့နောက်ဆက်စပ်၍ မိန့်ဆိုထားခြင်း၏ သဘောမှာ အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်ကိုနာခံ၍ ရမသျွာန်လမြတ်၌ ဥပုသ်ဆောက်တည်ရာတွင် စားသုံးအပ်သော အစာ အဟာရများကိုပင် မစားသုံးသကဲ့သို့ပင် မစားသုံးအပ်သော အရာများကိုလည်း တစ်သက်လျာလုံး ကြဉ်ရှောင်ရမည့် အကြောင်းနှင့် အလ္လာဟ်အရှင်မြတ်၏ တာဝန်များကို ကျေပြွန်စွာ ဆောင်ရွက်သကဲ့သို့ပင် လူသားတို့၏ တာဝန်များကိုလည်း မပျက်ကွက်ရမည့် အကြောင်းများကို သတိပေးနှိုးဆော်ထားခြင်းပင်ဖြစ်သည်။

(၁) ဆန်းဦးစ လ-များဟူသည် ကာလအပိုင်းအခြားဖြစ်သော (၂၉-ရက်တစ်လ၊ ၃၀ရက် တစ်လဖြစ်သော) လများကို ဆိုလိုသည်။ ထိုကာလအစိတ်အပိုင်းဖြစ်သောလကို ဆန်းဦးစ လ ဟူသောစကားဖြင့် ခေါ်ဆိုသုံးစွဲရခြင်းမှာ ကာလအစိတ်အပိုင်းဖြစ်သောလတွင် ထိုဆန်းဦးစ (လ) ထွက်ပေါ်သည့်အတွက်ဖြစ်သည်။ ကုရ်တုဗီ။

**ဆက်စပ်မှု**

ပြီးခဲ့သော အပိုဒ် (၂၃)တွင် ရမသျွာန်လမြတ်အကြောင်းနှင့် ဆွိယာမ်ဥပုသ် ဆောက်တည်ခြင်း၏ ပညတ်ချက်များပါရှိ၏။ ရမသျွာန်လမြတ်နှင့် ဆက်စပ်လျက်ရှိသော လများမှာ ရှောင်ဝါလ်လ၊ သုကအ်ဒဟ်လ၊ သူလ်ဟစ်ဂျ်ဂျဟ်လများ ဖြစ်သည်။ ဤလများသည် ဟဂျ်နှင့် အထူးသက်ဆိုင်သော လများဖြစ်သည်။ ဟဂျ်လများသည် အရဗ်လူမျိုးတို့တွင် အထူးပင်ကျော်ကြား၏။ ကြည့်-ကုရ်အာန် (၂း၁၉၇)

ယခုဤအပိုဒ်တွင် ထိုရမသွန်လမြတ်နှင့် ဆက်စပ်လျက်ရှိသော လများအကြောင်း၊ ထို့ပြင်တဝ ထိုလများနှင့် ဆက်စပ်လျက် စစ်မတိုက်ရန် မြစ်တားထားသော မို့ဟရ်ရမ်လ၊ ရဂျဗ်လ၊ သူကအ်ဒဟ်လ၊ သူလ်ဟစ်ဂျ်ဂျဟ်လများ အကြောင်းကိုလည်း မိန့်ဆိုထားခြင်းဖြစ်သည်။

**ထုတ်ပြန်ပို့ချခြင်းအကြောင်း**

အန်ဆွာရီများဖြစ်သော မုအာသ် အီဗ်နို့ဂျဗလ်နှင့် သအ်လဗဟ် အီဗ်နုဃနမ်က "လ" ၏ အကြောင်းနှင့် စပ်လျဉ်း၍ အို-အလ္လာဟ်အရှင်မြတ်၏ရစူလ်၊ "လ"သည် ပဌမ သေးငယ်စွာ ထွက်ပေါ်လာပြီး တဖြည်းဖြည်း လဝန်းသည် ပြည့်လာ၏။ ထို့နောက် တဖန်ပြည့်လျက်ရှိသော လဝန်းသည် တဖြည်းဖြည်းငယ်ပြီး နောက်ဆုံးတွင် ယခင်ကကဲ့သို့ပင် ပြန်လည်ဖြစ်သွား၏။ လ သည် တမျိုးတစားတည်း တည်ရှိနေသည်မရှိ၊ ဤကားအသို့ပါနည်းဟု နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုက်ဟိဝစလ္လမ်)အား လာရောက်မေးမြန်းကြ၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် ဤမုကဒ္ဒပါဌ်တော်ကို ထုတ်ပြန်ပို့ချတော်မူလေသည်။ (ခါဇင်န်)

**ဖော်ပြချက်**

ကမ္ဘာအတိတ် ရာဇဝင်ကို ပြန်လည်သုံးသပ်ကြည့်လျှင် ဘုရားအများကိုးကွယ်သော "မွတ်ရှရစ်က်" တို့သည် လကိုလည်း ဘုရားဟူ၍ မှတ်ယူကိုးကွယ်ခဲ့သည်။ အချို့သည် ဆန်းဦးစ-လ-ကိုလည်း ဘုရားအမှတ် ကိုးကွယ်ခဲ့ကြသည်။ အချို့က ဆန်းဦးစလသည် မင်္ဂလာဖြစ်၍ ဆုတ်သောလသည် အမင်္ဂလာဖြစ်သည်ဟူ၍ ယူဆခဲ့ကြသည်။ အိန္ဒိယပြည်တွင် ယနေ့တိုင် လကိုးကွယ်မှုကို တွေ့ရှိရပေသေးသည်။ ➢➢

وَالْحَجِّ ۗ وَلَيْسَ الْبِرُّ بِأَنْ تَأْتُوا الْبُيُوتَ مِنْ ظُهُورِهَا وَلَٰكِنَّ الْبِرَّ مَنِ اتَّقَىٰ ۗ وَأْتُوا الْبُيُوتَ مِنْ أَبْوَابِهَا ۚ وَاتَّقُوا اللَّهَ لَعَلَّكُمْ تُفْلِحُونَ ۝١٨٩

ထိုဆန်းဦးစ လများသည် လူခပ်သိမ်းတို့အဘို့ အချိန်ကာလများကို အမှတ်သညာပြုနိုင်အံ့သောငှါ လည်းကောင်း၊ ဟဂျ်ပြုရန်သတ်မှတ်ထားသောနေ့ ရက်များကို သိနိုင်အံ့သောငှာလည်းကောင်း၊ (ပြုထား တော်မူသော) *အမှတ်သညာများသာဖြစ်ချေသည်။*[၁] သင်တို့သည် (ဟဂျ်ပြုရန် "အိဟ်ရာမ်" ခေါ် ဝတ်ရုံ များဝတ်ဆင်ပြီး မိမိတို့)အိမ်များကို (ပြန်လာသော အခါ) အိမ်၏နောက်ဘက်မှ ဝင်ရောက်ခြင်းသည် ကောင်းမြတ်သော အကျင့်သီလမဟုတ်ပေ။ အမှန် အားဖြင့် (အလ္လာဟ်အရှင်မြတ်ကို ကြောက်ရွံ့ရိုသေ၍) မကောင်းမှု ဒုစရိုက်များကို ရှောင်ကြဉ်သော သူများ သာလျှင် သူမွန်သူမြတ်များ ဖြစ်ကြပေသည်။ သို့ ဖြစ်ရာ အသင်တို့သည် (မိမိတို့) အိမ်တွင်းသို့ (ဝင်ရောက် ကြသောအခါ) (ဝင်ထွက်သွားလာရိုး ဖြစ်သော) တံခါးပေါက်များမှသာ ဝင်ကြကုန်လော့။ ၎င်းပြင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကို ကြောက်ရွံ့ရိုသေကြကုန်လော့။ သို့မှသာလျှင် အသင် တို့သည် (နှစ်ဘဝလုံး၌) အောင်ကြပေမည်။

➤➤ လ သည် လူသားတို့အဘို့ အချိန်ကာလများကို သိနိုင်ရန် ပြုလုပ်ထားသော အမှတ်သညာတစ်ခုမျှသာ ဖြစ်ကြောင်း၊ လ သည် ကိုးကွယ်ရာ ဘုရားမဟုတ်ကြောင်းနှင့် လူသားတို့ အသုံးအဆောင်မျှသာဖြစ်ကြောင်းကို အလ္လာဟ်အရှင်မြတ်သည် ဤမုကဒ္ဒပါဌ်တော်တွင် ထုတ်ဖော် မိန့်ဆိုထားခြင်းပင်ဖြစ်သည်။ (မာဂျိဒီ)။

(၁) အစ္စလာမ်သာသနာသည် အစစအရာရာတွင် လူသားတို့အဘို့ လွယ်ကူမှုကို ရှေးရှုပေသည်။ အစ္စလာမ်သာသနာသည် နေ့ရက်အချိန်များကို သတ်မှတ်ရာတွင် နေကိုအဓိကမထားဘဲ၊ လ ကိုသာ အဓိကထားပေသည်။အကြောင်းသော်ကား လ သည် နေ့စဉ်နှင့်အမျှ ပြောင်းလွဲလျက်ရှိ၏။ လဆန်း၊ လကွယ်ကို လူတိုင်းပင်သိကြ၏။ (နေကိုအကြောင်းပြု၍ နေ့ရက်သတ်မှတ်ခြင်း ကိစ္စမှာကား နက္ခတ်တာရာ အတတ်ပညာ တတ်ကျွမ်းသော သူများအဘို့သာ ဖြစ်နိုင်၏) လူသာမန်တို့အဘို့ မဖြစ်နိုင်ပေ။ ထို့အတွက်ကြောင့် အစ္စလာမ်သာသနာသည် (အများ) လူခပင်းတို့၏ လွယ်ကူမှုကို ရှေးရှုကာ ဟဂျ်ပြုခြင်း၊ ဆွမ်ယာမ် ဥပုသ်ဆောက်တည်ခြင်း၊ ဇကာတ်ပေးဆောင်ခြင်း၊ အီဒ်ပွဲတော်များ ကျင်းပခြင်း၊ "တွလာက်" လင်ခန်း မယားခန်းပြတ်စဲခြင်း၊ အစရှိသည့် သာသနာရေး ကိစ္စများအတွက် နေ့ရက်များကို သတ်မှတ်ထားရာတွင် လ ကိုသာ အဓိကထား၍ နေ့ရက်ကိုသတ်မှတ်ထားသည်။ အခြားလောကီရေး ကိစ္စများတွင် နေကို ➤➤

وَقَاتِلُوا فِي سَبِيلِ اللَّهِ الَّذِينَ يُقَاتِلُونَكُمْ وَلَا تَعْتَدُوا ۚ إِنَّ اللَّهَ لَا يُحِبُّ الْمُعْتَدِينَ ﴿١٩٠﴾

၁၉၀။ ထို့ပြင်တဝ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ အသင်တို့ကို (စတင်) စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်သူတို့နှင့် ပြိုင်ဆိုင်တိုက်ခိုက်ကြကုန်လော့။ [1] သို့ရာတွင် (ဤသို့တိုက်ခိုက်ရာ၌) အသင်တို့သည် (မည်သည့်နည်းနှင့်မျှ) မကျူးလွန်ကြကုန်လင့်။ ဧကန်မုချ အလ္လာဟ်အရှင်မြတ် သည် ကျူးလွန်သူတို့ကို နှစ်သက်တော်မူသည် မဟုတ်ချေ။

---

➤➤ အကြောင်းပြု၍ ရက်သတ်မှတ်ခြင်းကိုလည်း အစ္စလာမ်သာနာသည် မပိတ်ပင်ပေ။ သို့ပင်တစေ အစစအရာရာတွင် အစ္စလာမ်သာသနာတော်နှင့်အညီ လ ကို အကြောင်းပြု၍ နေ့ရက်များကိုသတ်မှတ်ခြင်းသည် ပိုမို၍ သင့်မြတ်ပေသည်။ မောင်လာနာထာနဝီသခင်ကမူ လ ကို အကြောင်းပြု၍ ရက်သတ်မှတ်ခြင်းသည် "ဖရ်ဿွကေ့ဖါယတ်" ဖြစ်သည်ဟူ၍ပင် မိန့်ဆိုထားသည်။ ကြည့်-တဖ်စီရ်ဗယာနုလ် ၊ကုရ်အာန်။

(၁) **ဆက်စပ်မှု**

ပြီးစီးခဲ့သော မုကၡပါဌ်တော် (၂း ၁၈၉)တွင် "တာက္ကဝါ" ခေါ် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေရမည့် အကြောင်းပါရှိ၏။ ယခုဤမုကၡပါဌ်တော် (၂း ၁၉၀)တွင် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်သည့် အချိန်၌ပင်လျှင် "တာက္ကဝါ" တည်းဟူသော တရားကိုစောင့်စည်းရမည့်အကြောင်း ထုတ်ဖော်မိန့်ဆိုထားသည်။ ဤကား "တာက္ကဝါ"၏အမျိုးစားများအနက် အခက်ခဲဆုံးသော "တာက္ကဝါ" ပင်တည်း။ ကြည့် - ကဗီရ်ကျမ်း။

မွတ်စ်လင်မ်တို့သည် မက္ကာမြို့တွင် ၁၃-နှစ်တိုင်တိုင် အရဗ်ကာဖိရ် မိစ္ဆာဒိဋ္ဌိတို့၏ ညှဉ်းဆဲနှိပ်စက်ခြင်း အမျိုးမျိုးတို့ကို မချိမဆန့်ခံခဲ့ကြရ၏။ အိမ်မဲ့အိုးမဲ့ ဖြစ်ခဲ့ကြရ၏။ မိမိတို့ နေရင်းဌာနဖြစ်သော မက္ကာမြို့ကိုပင် စွန့်လွှတ်၍ အချို့မွတ်စ်လင်မ်များသည် အဘီစီးနီးယားပြည်သို့ ထွက်ခွာသွားခဲ့ကြရ၏။ အချို့တို့သည် မက္ကာမြို့မှ မိုင် (၃၀၀)ခန့်ကွာဝေးသော မဒီနာမြို့သို့ ရွှေ့ပြောင်းနေထိုင်ခဲ့ကြ၏။ သို့ရွှေ့ပြောင်းနေကြသော်လည်း ကာဖိရ်တို့၏ အနှောင့်အယှက် အမျိုးမျိုးတို့ကြောင့် အေးချမ်းသာယာစွာ မနေနိုင်ခဲ့ကြချေ။ မိမိတို့၏ ဘာသာရေးကိစ္စများကိုလည်း လွတ်လပ်စွာ မဆောင်ရွက်နိုင်ခဲ့ကြချေ။

ဟစ်ဂျ်ရီ (၆) ခုနှစ်၊ ဇူလ်ကအ်ဒဟ်လတွင် နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုက်ဟိ ဝစလ္လမ်)သည် ၁၄၀၀ ခန့်မျှရှိသော (ဆွဟာဗဟ်) သာဝကကြီးများနှင့်အတူတကွ "အုမ်ရဟ်" ပြုရန်အလို့ငှါ မဒီနာမြို့မှ မက္ကာမြို့သို့ ခရီးထွက်တော်မူသည်။ မက္ကာမြို့နှင့် ခရီးတစ်စခန်းအကွာ၌ရှိသော "ဟုဒိုင်ဗိယဟ်" အမည်ရှိသော ဌာနသို့ ရောက်ကြသောအခါ မက္ကာမြို့သူမြို့သားများက နဗီတမန်တော်နှင့်တကွ သာဝကကြီးများအား မက္ကာမြို့တွင်းသို့ ဝင်ရောက်ခြင်းမှ တားမြစ်ကြလေသည်။

နဗီတမန်တော်က မိမိတို့လာရောက်ခြင်းမှာ စစ်တိုက်ခိုက်ရန် မဟုတ်ကြောင်း၊ "အုမ်ရဟ်" ပြုရန်အလို့အငှါသာ လာရောက်ခြင်းဖြစ်ကြောင်းများကို ရှင်းပြတော်မူ၏။ ထို့နောက် နဗီတမန်တော်နှင့် အရဗ်ကာဖိရ်တို့သည် စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုကြလေသည်။ ထိုစာချုပ်၏စည်းကမ်းချက် အရပ်ရပ် အနက် စည်းကမ်းချက်တစ်ရပ်မှာ နဗီတမန်တော် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)နှင့်တကွ ➤➤

➤➤ မွတ်စ်လင်မ်များသည် ယခုနှစ် "အုမ်ရဟ်" မပြုဘဲ ပြန်ကြရမည်။ နောက်နှစ်တွင် မက္ကာမြို့သို့ လာရောက်၍ အုမ်ရဟ်ပြုနိုင်ကြသည် ဟူ၍ဖြစ်သည်။

နဗီတမန်တော်နှင့် သာဝကကြီးများသည် စာချုပ်ပါ စည်းကမ်းချက်အရ အုမ်ရဟ်မပြုဘဲ မဒီနာမြို့သို့ ပြန်ခဲ့ကြလေသည်။ "ဟုဒိုင်ဗိယဟ်" စာချုပ်အကြောင်း အကျယ်ကို "စီရတုအစ်ဗ်နိဟိရှာမ်" ကျမ်းတွင်ရှုပါကုန်။

အဆိုပါ စာချုပ်အရ နဗီတမန်တော်မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) နှင့်တကွ သာဝကကြီးများသည် ဟစ်ဂျ်ရီ (၇) ခုနှစ်တွင် မက္ကာမြို့သို့ သွားရောက်၍ "အုမ်ရဟ်" ပြုရန်စီစဉ်ကြ၏။ ထိုအခါ အချို့သာဝကကြီးများ၏စိတ်တွင် အရဗ်ကာဖိရ်များသည် စာချုပ်ပါ စည်းကမ်းချက်များကို ဖောက်ဖျက်ပြီး မွတ်စ်လင်မ်တို့အား တားဆီးကြမည်။ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ကြမည်ဟူ၍ စိုးရိမ်မှုဖြစ်ပေါ်လာလေ၏။

အကယ်၍ အရဗ်ကာဖိရ်တို့က စတင်တိုက်ခိုက်ခဲ့သည် ရှိသော် မွတ်စ်လင်မ် များသည် စစ်မတိုက်ချင်ဘဲလျက် စစ်တိုက်ကြရပေမည်။ မွတ်စ်လင်မ်တို့သည် စစ်မတိုက်ရန် မြစ်တားထားသောလများတွင် အထူးသဖြင့် အလ္လာဟ်အရှင်မြတ်၏ ကျောင်းတော် ပရဝုဏ်အတွင်း၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းကို လုံးဝမလိုလားကြပေ။

ထိုကဲ့သို့ မွတ်စ်လင်မ်များ ပူပန်သောက ဖြစ်နေကြသောအခါ၌ အလ္လာဟ်အရှင်မြတ်သည် ကျူးကျော်စော်ကားမှု အမျိုးမျိုးကို ခံနေကြရသော မွတ်စ်လင်မ်များအား ကျူးကျော်စော်ကားလျက်ရှိသော ကာဖ်ရ်တို့နှင့် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန် ဤမုက္ခပါဌ်တော်ကို မဒီနာမြို့တွင် ဦးစွာပဌမ ထုတ်ပြန်ပို့ချတော်မူလေသည်။ ကြည့်-အလ်မနာရ်ကျမ်း၊ ကဗီရ်ကျမ်း။

အစ္စလာမ်သမိုင်းတွင် အထူးကျော်ကြားခဲ့သော စစ်ပွဲကြီးသုံးပွဲမှာ (၁) ဗဒ်ရ်စစ်ပွဲ၊ (၂) အိုဟွဒ်စစ်ပွဲ၊ (၃) အဟ်ဇာဗ်စစ်ပွဲ များပင်ဖြစ်သည်။

ဖော်ပြပါ စစ်ပွဲသုံးပွဲ ဖြစ်ပွားရာဌာနကို ချင့်ချိန်စဉ်းစား ဆင်ခြင်ကြည့်သည်ရှိသော် မည်သူက မည်သူ့အား စတင်တိုက်ခိုက် ကျူးကျော်သည်ကို ကောင်းစွာ သိနိုင်ပေသည်။

အလ္လာဟ်အရှင်မြတ်သည် ဟစ်ဂျ်ရီ ၂-ခုနှစ်၊ ဆွဖရ်လ ၁၂-ရက်နေ့တွင် ကာဖိရ်တို့၏ ကျူးကျော်စော်ကားခြင်း ခံနေကြရသော မွတ်စ်လင်မ်တို့အား ပြန်လည်ခုခံ ကာကွယ်တိုက်ခိုက်ရန် စတင် ခွင့်ပြုတော်မူသည့်အကြောင်းကို "မဝါဟိဗ် လဒွန်နီယတ်" ကျမ်းနှင့် ဖုရ်ကာနီကျမ်းတွင် တွေ့ရှိရပေသည်။

ခုခံကာကွယ်တိုက်ခိုက်ရန် မွတ်စ်လင်မ်တို့အား ခွင့်ပြုတော်မူခြင်းနှင့် စပ်လျဉ်း၍ ဦးစွာပဌမ ထုတ်ပြန်ပို့ချတော်မူသော မုက္ခပါဌ်တော်သည် ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော် (၂၂:၃၉) ဖြစ်သည်ဟု အေမာမ်ဇုဟ်ရီ သခင်ကဆိုသည်။

အီဗ်နုဂျရီရ် သခင်ကမူ ယင်းမုက္ခပါဌ်တော်သည် ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော် (၂း ၁၉၀) ဖြစ်သည်ဟု ဆိုသည်။

မည်သို့ပင်ဖြစ်စေကာမူ အဆိုပါမုက္ခပါဌ်တော် ၂-ပုဒ်ကို စဉ်းစားဆင်ခြင်သည်ရှိသော် မွတ်စ်လင်မ်တို့အား မိမိတို့ကို စတင်တိုက်ခိုက်သူများအား ပြန်လည်ခုခံ ကာကွယ်တိုက်ခိုက်ရန် ခွင့်ပြုထားတော်မူခြင်းမှာ ထင်ရှားလှပေသည်။ ကြည့် – စီရတွန်နဗီ၊ ပဌမတွဲ။ စာမျက်နှာ (၂၈၆-၂၈၇)။

وَاقْتُلُوهُمْ حَيْثُ ثَقِفْتُمُوهُمْ وَأَخْرِجُوهُم مِّنْ حَيْثُ أَخْرَجُوكُمْ وَالْفِتْنَةُ أَشَدُّ مِنَ الْقَتْلِ وَلَا تُقَاتِلُوهُمْ عِندَ الْمَسْجِدِ الْحَرَامِ حَتَّىٰ يُقَاتِلُوكُمْ فِيهِ فَإِن قَاتَلُوكُمْ فَاقْتُلُوهُمْ كَذَٰلِكَ جَزَاءُ الْكَافِرِينَ ﴿١٩١﴾

**၁၉၁။** ထို့ပြင်တဝ အသင်တို့သည် ထိုကာဖိရ်မိစ္ဆာဒိဋ္ဌိတို့အား တွေ့ဆုံဖမ်းဆီးမိရာအရပ်၌ သုတ်သင်ရှင်းလင်း ကြကုန်လော့။ ထို့ပြင်တဝ ထိုကာဖိရ်တို့က အသင်တို့အား (မက္ကာမြို့တော်မှ) နှင်ထုတ်သကဲ့သို့ အသင်တို့သည်လည်း *ထိုကာဖိရ်တို့အား (မက္ကာမြို့တော်မှ) နှင်ထုတ်ကြကုန်။* [၁] အမှန်သော်ကား (သာသနာရေး၌) ညှဉ်းဆဲနှိပ်စက် နှောင့်ယှက်ခြင်းသည် သတ်ဖြတ်ခြင်းထက်ပင် ပို၍ဆိုးရွားလှ၏။

သို့ဖြစ်ငြားလည်း "မတ်စ်ဂျိဒ် ဟရာမ်" ခေါ် ရိုသေမြတ်နိုးအပ်သော (အလ္လာဟ် အရှင်မြတ်၏) ကျောင်းတော်ပါး၌ ထိုကာဖိရ်တို့က အသင်တို့အား စတင်မတိုက်ခိုက်သမျှ ကာလပတ်လုံး အသင်တို့သည် ၎င်းတို့အား မတိုက်ခိုက်ကြကုန်လင့်။ အကယ်၍ ထိုကာဖိရ်တို့သည် အသင်တို့အား စတင်တိုက်ခိုက်ကြပါမူ အသင်တို့သည်ထိုသူတို့အား တုံ့ပြန်တိုက်ခိုက်ကြလေကုန်။

ဤသည်ပင် ကာဖိရ်တို့အား အပြစ်ဒဏ်ပေးခြင်းပင်ဖြစ်သည်။

---

(၁) (ထိုကာဖိရ် မိစ္ဆာဒိဋ္ဌိတို့က အသင်တို့အား နှင်ထုတ်သကဲ့သို့ အသင်တို့ကလည်း ထိုမိစ္ဆာဒိဋ္ဌိတို့အား နှင်ထုတ်ကြကုန်ဟူ၍ ကုရ်အာန်ကျမ်းမြတ်တွင် အမိန့်တော်လာရှိသည်နှင့်အညီ) နဗီတမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် အလ္လာဟ်အရှင်မြတ်၏ကျောင်းတော်ပရဝုဏ်မှ မုရှ်ရစ်က်အာလုံးတို့ကို နှင်ထုတ်တော်မူခဲ့၏။ ထို့ပြင် နဗီတမန်တော်သည် ထိုမိစ္ဆာဒိဋ္ဌိတို့ကို မဒီနာမြို့တော်မှလည်း နှင်ထုတ်တော်မူခဲ့၏။ ၎င်းနောက် အာရေဗျတိုင်းပြည်တွင် (မှန်ကန်သော ဘာသာနှင့် မမှန်ကန်သော) ဘာသာနှစ်ရပ်သည် အတူမရှိနိုင်ဟု နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)က မိန့်ကြားတော်မူခဲ့လေသည်။

တဖ်စီရ်ဖစ်ရ်ဒ်ဒီန်ရာဇီ။

ယနေ့ထက်တိုင် အလ္လာဟ်အရှင်မြတ်၏ကျောင်းတော်ပရဝုဏ်နှင့် "ဟရမ်" ဟု သတ်မှတ်ထားသော နယ်နိမိတ်အတွင်း ကာဖ်ရ်များ နေနိုင်ခွင့်မရှိသည်မှာ မျက်မြင်ပင်ဖြစ်ချေသည်။

فَإِنِ انْتَهَوْا فَإِنَّ اللَّهَ غَفُورٌ رَّحِيمٌ ﴿١٩٢﴾

၁၉၂။ သို့သော် အကယ်၍သာ ယင်းသူတို့သည် (အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို သွေဖည်ခြင်း၊ မွတ်စ်လင်မ်တို့အားညှဉ်းဆဲခြင်းနှင့် ပြိုင်ဆိုင်တိုက်ခိုက်ခြင်းတို့ကို) ရပ်စဲခဲ့*ကြပါလျှင်* [၁] မုချဧကန် အလ္လာဟ် အရှင်မြတ်သည် (ပြစ်မှုဒုစရိုက်တို့ကို)အဖန်တလဲလဲ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ (သတ္တဝါအပေါင်းတို့အား) မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသောအရှင်ဖြစ်တော်မူလေသတည်း။

وَقٰتِلُوهُمْ حَتّٰى لَا تَكُونَ فِتْنَةٌ وَّيَكُونَ الدِّينُ لِلّٰهِ ۖ فَإِنِ انْتَهَوْا فَلَا

၁၉၃။ ထို့ပြင်တဝ အသင်တို့သည် သာသနာရေး ညှဉ်းပန်းမှု လုံးဝပပျောက်၍ *သာသနာသည် အလ္လာဟ် အရှင်မြတ်အတို့သာ* [၂] ဖြစ်သွားသည့် တိုင်အောင် (ဝါ) (အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကိုသာလျှင် လိုက်နာလာကြသည့် တိုင်အောင်) ထိုသူတို့နှင့် စစ်မက် ပြိုင်ဆိုင်တိုက်ခိုက်ကြကုန်လော့။

---

(၁) "ထိုကာဖိရ်များသည် အကယ်၍ ရပ်တန့်ကြပါလျှင်" (ဝါ) အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို သွေဖည်ခြင်းမှငင်း၊ စစ်မက် ပြိုင်ဆိုင် တိုက်ခိုက်ခြင်းမှငင်း၊ (ရပ်တန့်ကြပါလျှင်)။

ဆိုလိုသည်ကား ကာဖိရ်များသည် အလ္လာဟ်အရှင်မြတ်၏ လွတ်ငြိမ်းချမ်းသာခွင့်ကို လိုလားကြပါလျှင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို သွေဖယ်ခြင်းမှ ရပ်တန့်ကြရမည်။ မိမိတို့ ကျူးလွန်ခဲ့သမျှ မကောင်းမှု ဒုစရိုက်တို့ကို အလ္လာဟ်အရှင်မြတ်၏ထံတော်၌ ဝန်ချတောင်းပန် အသနားခံ၍ အစ္စလာမ်သာသနာတော်ကို ဦးလည်မသုံ လက်ခံနာယူကြရမည်။ မွတ်စ်လင်မ်တို့နှင့် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းကိုလည်း ရပ်စဲကြရမည် ဟူလို။ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို နာခံပါက လွတ်ငြိမ်းချမ်းသာခွင့်ရမည့် အကြောင်း ကုရ်အာန် ကျမ်းမြတ် (၈:၃၈)တွင် မိန့်ဆိုထားတော်မူ၏။ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို မနာခံပါက ငရဲသို့ လားမည့်အကြောင်း ကုရ်အာန်ကျမ်းမြတ် (၅:၇၁၃)တွင် မိန့်ဆိုထားတော်မူ၏။

ကြည့် - အီဗ်နုကျစီရ်၊ မအာလိမွတ်တန်ဇီလ်။

အချို့ကျမ်းများတွင် ဤမုကဒ္ဒပါဌ်တော်နှင့် စပ်လျဉ်း၍ ကာဖိရ်များသည် အကယ်၍ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းမှ ရပ်တန့်ကြလျှင် (ဝါ) ရပ်တန့်ရုံမျှဖြင့် အလ္လာဟ် အရှင်မြတ်၏ လွတ်ငြိမ်းချမ်းသာခွင့်ကို ခံစားကြရမည်ဟူ၍ ရေးသားဖော်ပြထားသည်ကို တွေ့ရှိရသည်။ ဤစကားသည် အမှားစင်စစ်ဖြစ်၏။

(၂) အစ္စလာမ်သာသနာသည် ကမ္ဘာ့အဝှန်းအတွက် ဖြစ်၏။ ကမ္ဘာ့အဝှန်းတွင် ပျံ့နှံ့လျက်ရှိ၏။ ကမ္ဘာ့အဝှန်းတွင် ပျံ့နှံ့လျက်ရှိသောကမ္ဘာ့မွတ်စ်လင်မ်များ တစ်နေရာတစ်ဌာနတွင်စုဝေးနိုင်ရန်အလို့ငှာ ဗဟိုဌာနတစ်ခုသည် မုချ ရှိအပ်၏။ ထိုဌာနသည်အစ္စလာမ်သာသနာတော်၏ စံပြဌာနဖြစ်ရပေမည်။ ထိုဌာနတွင်တဆူတည်းသော ➤➤

عُدْوَانَ إِلَّا عَلَى الظّٰلِمِيْنَ ﴿١٩٣﴾

သို့ရာတွင် အကယ်စင်စစ် ထိုသူတို့သည် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းကို ရပ်စဲကြပါမူ ကျူးလွန်နှိပ်စက် ညှဉ်းပန်းသူတို့မှတပါး အခြားသူတို့ အပေါ်ဝယ် မည်သို့မျှ ကျူးကျော်စော်ကား (တုံ့ပြန် သတ်ဖြတ်)ရန် အကြောင်းမရှိပေ။

---

➤➤ အလ္လာဟ်အရှင်မြတ်ကိုသာလျှင် ခဝပ်ကိုးကွယ်ရပေမည်။ အစ္စလာမ်နှင့် ဆန့်ကျင်သည့်၊ အလ္လာဟ် အရှင်မြတ်အား သွေဖည်ငြင်းဆိုမှု၊ ရုစ်ရိုက်အခြားအရာများကို ယုဉ်တွဲကိုးကွယ်မှုစသည်တို့သည် အလျှင်းမရှိအပ်ပေ။

ကမ္ဘာ့မွတ်စ်လင်မ်တို့၏ ဗဟိုဌာနအဖြစ် နဗီတမန်တော် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) မွေးဘွားတော်မူရာဌာန၊ အစ္စလာမ်သာသနာတော်ကို လက်တွေ့ကျင့်သုံးပြတော်မူရာဌာန၊ အလ္လာဟ်အရှင်မြတ်၏ ကျောင်းတော်ရှိရာဌာန၊ ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ပို့ချတော်မူရာဌာနဖြစ်သော အရဗ်တိုင်းပြည်ထက် ပိုမိုသင့်မြတ်သောဌာနသည် အဘယ်မှာလျှင်ရှိနိုင်အံ့နည်း။ ကြည့်- မာဂျိဒီ

အစ္စလာမ်သာသနာတော်၏ စံပြဌာနတွင် အလ္လာဟ်အရှင်မြတ်၏ ကျောင်းတော်ပရဝုဏ်အတွင်း၌ အလ္လာဟ်အရှင်မြတ်အား ကြည်ညိုမြတ်နိုးသော မွတ်စ်လင်မ်တို့ကို ဒုက္ခပေးခြင်း၊ ညှင်းဆဲခြင်း၊ ဥစ္စာပစ္စည်း သိမ်းယူခြင်း၊ အသက်စည်းစိမ်တို့ကိုရန်ရှာခြင်း၊တိုင်းပြည်မှနှင်ထုတ်ခြင်း၊ ရှောင်တိမ်းနေသောမြို့ရွာများသို့ လိုက်လံ၍ဒုက္ခပေးခြင်း၊ မွတ်စ်လင်မ်တို့အား အဓမ္မနည်းဖြင့် မိမိတို့ဘာသာအတွင်းသို့ ပြန်လည်သွတ်သွင်းခြင်း၊ သာသနာတော်အရေးနှင့် စပ်လျဉ်း၍ ဤရွေ့ဤမျှ အနှောက်အယှက်ပေးခြင်းတို့သည် အဘယ်မျှဆိုးရွားသည်ကို သူ-ငါအများသိနိုင်ပေသည်။

ဤသည်ကိုပင် ကုရ်အာန်ကျမ်းမြတ်က ယင်းကဲ့သို့ သာသနာတော်အရေးနှင့် စပ်လျဉ်း၍ ညှဉ်းဆဲခြင်း သည် သတ်ဖြတ်ခြင်းထက်ပင် ပိုမိုဆိုးရွားလှပေသည်ဟု မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။ သာသနာတော်ထိ မခိုက်အောင်နာသည်မှာ မှန်ကန်လှ၏။

ဖော်ပြပါ အကြောင်းများကြောင့် ကမ္ဘာ့မွတ်စ်လင်မ်တို့၏ဗဟိုဌာနတွင် သာသနာရေးလွတ်လပ်မှု ရရှိစိမ့်သောငှာ သာသနာတော်အရေးနှင့် စပ်လျဉ်း၍ မွတ်စ်လင်မ်တို့အား အမျိုးမျိုးညှဉ်းဆဲလျက်ရှိသော ကာဖိရ်၊ မွတ်ရှ်ရစ်က် မိစ္ဆာဒိဋ္ဌိတို့နှင့် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်း၊ ယင်းသူတို့အား အစ္စလာမ်ဗဟိုဌာနမှ နှင်ထုတ်ခြင်းသည် မလွှဲမရှောင်သာသော ကိစ္စတစ်ရပ်ပင်ဖြစ်ချေသည်။

ထို့အတွက်ကြောင့်ပင် အလ္လာဟ်အရှင်မြတ်က သာသနာတော်ရေးနှင့်စပ်လျဉ်း၍ ညှဉ်းဆဲမှုပပျောက်၍ သာသနာတော်သည် အလ္လာဟ်အရှင်မြတ်အတွက်သာ ဖြစ်လာသည့်တိုင်အောင် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ကြကုန် ဟူ၍ ကုရ်အာန်ကျမ်းလာ ဤမုက္ခပါဌ်တော် (၂း၁၉၃)တွင် မိန့်ဆိုထားတော်မူသည်။ ဤအကြောင်းကို ကုရ်အာန် (၂၂း၃၉-၄၀)တွင်လည်း တနည်းဖော်ပြထားတော်မူသည်။

اَلشَّهْرُ الْحَرَامُ بِالشَّهْرِ الْحَرَامِ وَالْحُرُمٰتُ قِصَاصٌ ۭ فَمَنِ اعْتَدٰى عَلَيْكُمْ فَاعْتَدُوْا عَلَيْهِ بِمِثْلِ مَا اعْتَدٰى عَلَيْكُمْ ۠ وَاتَّقُوا اللّٰهَ وَاعْلَمُوْٓا اَنَّ اللّٰهَ مَعَ الْمُتَّقِيْنَ ﴿١٩٤﴾

၁၉၄။ ထူးမြတ်သော လ(ကို လေးစားခြင်း)သည် ထူးခြားသော လ(ကိုလေးစားခြင်း)အပေါ်၌ တည်ရှိပေသည်။ [၁] ထိန်းသိမ်းစောင့်ရှောက် ရှိသေမြတ်နိုးအပ်သောအရာများသည် အပြန်အလှန် တုံ့ပြန်အပ်သော အရာများသာဖြစ်ချေသည်။ သို့ဖြစ်လေရာ အကြင်သူသည် (ထူးမြတ်သောလကို မလေးစားဘဲလျက်) အသင်တို့ကို စတင်ကျူးကျော် စော်ကားပါမူ ထိုသူက အသင်တို့ကို ကျူးကျော်စော်ကားသကဲ့သို့ အသင်တို့သည်လည်း ထိုသူအားတုံ့ပြန်၍ လက်စားချေကြကုန်လော့။ [၂] သို့ရာတွင် အသင်တို့သည် အမြဲမပြတ် အလ္လာဟ်အရှင်မြတ်ကိုကြောက်ရွံ့ရိုသေခန့်ညားကြကုန်။ ၎င်းပြင် အသင်တို့သိထားကြကုန်၊ မုချဧကန် အလ္လာဟ်အရှင်မြတ်သည် (မိမိအား)ကြောက်ရွံ့ရိုသေ ခန့်ညားသောသူများနှင့်အတူ ရှိတော်မူသည်။

---

(၁) အမိုက်ခေတ်တွင် အရဗ်လူမျိုးများသည် မပြောပလောက်သော သာမန်ကိစ္စကလေးများကို အကြောင်းပြု၍ အချင်းချင်းစစ်မက်ပြိုင်ဆိုင် တိုက်ခိုက်လေ့ရှိကြကုန်၏။ သို့ပင်တစေယင်း အရဗ်တို့သည် တစ်နှစ်လျှင် လေးလတိုင်တိုင် စစ်မတိုက်ဘဲ အေးချမ်းစွာ နေထိုင်ကြကုန်၏။ ကြည့်-ကုရ်အာန် (၉း၃၆)

စစ်မတိုက်ရန် သတ်မှတ်ထားသောလများမှာ (၁) မို့ဟရ်ရမ်လ၊ (၂) ရဂျဗ်လ၊ (၃) ဇူလ်ကအ်ဒဟ်လ၊ (၄) ဇူလ်ဟစ်ဂျ်ဂျဟ်လ များဖြစ်သည်။ ဤမုကဒ္ဒပါဌ်တော်တွင် ပါရှိသည့် ထူးမြတ်သောလဟူသည် ဟစ်ဂျ်ရီသက္ကရာဇ် (၇) ခုနှစ်၊ ဇူလ်ကအ်ဒဟ်လကို ရည်ညွှန်းသည်။ ထိုလတွင် နဗီတမန်တော်မုဟမ္မဒ်(ဆွာလ္လလ္လာဟုအလိုင်ဟိ ဝစလ္လမ်)နှင့်တကွ သာဝကကြီးများသည် ဟုဒိုင်ဗိယဟ် စာချုပ်အရ အေးချမ်းစွာ "အုမ်ရဟ်" ပြုရန်အလို့ငှါ မဒီနာမြို့မှ မက္ကာမြို့သို့ ထွက်ခွာလာခဲ့ကြ၏။ သို့ရာတွင် မက္ကာမြို့ရှိ ကာဖိရ်မိစ္ဆာဒိဋ္ဌိတို့သည် မိမိတို့ကိုယ်တိုင် ချုပ်ဆိုထားသော ထိုစာချုပ်ပါ စည်းကမ်းချက်များကို ဖောက်ဖျက်ပြီး "အုမ်ရဟ်" ပြုရန်လာကြသော မွတ်စ်လင်မ်တို့အား စတင်တိုက်ခိုက်ကြလေသည်။

ထို့အတွက်ကြောင့် ရိုသေမြတ်နိုးအပ်သောလများကို လေးစား၍ စစ်မတိုက်ခိုက်ခြင်းကိစ္စသည် တစ်ဘက်သားများက ထိုလများကိုလေးစားသကဲ့သို့ အခြားတစ်ဖက်သားများ၏ လေးစားခြင်းအပေါ်၌ တည်ရှိနေကြောင်း ဤမုကဒ္ဒပါဌ်တော် (၂း ၁၉၄)တွင် ထုတ်ဖော်မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

နှစ်ဦးနှစ်ဘက် ချုပ်ဆိုထားသော စာချုပ်တစ်ခုသည် ထိုစာချုပ်ပါ စည်းကမ်းချက်များကို နှစ်ဦးနှစ်ဘက်လုံး လိုက်နာသည်နှင့်အမျှ တည်ရှိပေမည်။ တစ်ဘက်ဘက်မှ စာချုပ်ပါစည်းကမ်းချက် ➤➤

وَأَنفِقُوا فِي سَبِيلِ اللَّهِ وَلَا تُلْقُوا بِأَيْدِيكُمْ إِلَى التَّهْلُكَةِ ۛ وَأَحْسِنُوا ۛ إِنَّ اللَّهَ يُحِبُّ الْمُحْسِنِينَ ﴿١٩٥﴾

၁၉၅။ ထို့ပြင်တဝ အသင်တို့သည် (မိမိတို့၏ဥစ္စာပစ္စည်းများကို) အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ လှူဒါန်းပေးကမ်း စွန့်ကြဲကြလေကုန်။ အသင်တို့သည် (မိမိတို့ကိုယ်ကို) *မိမိတို့လက်များဖြင့် ပျက်စီးရာပျက်စီးကြောင်းကို မပြုလုပ်ကြကုန်လင့်။* [၁] ထိုမှတပါး အသင်တို့သည် ကုသိုလ်တရားပွါးများရာ ပွါးများကြောင်းကိုသာ ပြုလုပ်ကြကုန်။ မုချဧကန် အလ္လာဟ်အရှင်မြတ်သည် ကုသိုလ်တရား ပွါးများသူတို့ကို နှစ်သက်တော်မူသည်။

---

➤➤ များကို ဖောက်ဖျက်သည်ရှိသော် ကျန်တစ်ဘက်သားများအပေါ်တွင် စာချုပ်ပါစည်းကမ်းချက်များကို လိုက်နာရန်တာဝန်မရှိပေ။

(၂) အရဗီစာပေ ဝေါဟာရတွင် များသောအားဖြင့် တုံ့ပြန်ခြင်း၊ လက်စားချေခြင်း၊ ချေပခြင်း အနက်သဘောကို ဖော်ရာ၌ မူလသုံးစွဲခဲ့သော ပုဒ်ကိုပင် ပြန်လည်သုံးစွဲလေ့ရှိသည်။ ဥပမာ ပြက်ရယ်ပြုခြင်းကို တုံ့ပြန်ရာတွင် ပြက်ရယ်ပြုခြင်းဟူသော မူလပုဒ်ကိုရင်း၊ ကြည့် - ကုရ်အာန် (၁း၁၄-၁၅) လှည့်ဖြားခြင်းကို တုံ့ပြန်ရာတွင် လှည့်ဖြားခြင်းဟူသော ပုဒ်ကိုရင်း၊ ကြည့် - ကုရ်အာန် (၂၇း၅၀) မကောင်းမှုကို ချေပရာတွင် မကောင်းမှုဟူသော စကားကိုရင်း၊ ကြည့်-ကုရ်အာန် (၄၂း၄၀)၊ သုံးထားသည်။ ဤနည်းအတိုင်းပင် ဤမုက္ခပါဌ်တော် (၂း၁၉၄) တွင်လည်း စတင်ကျူးကျော်သူများအား တုံ့ပြန်ရာတွင် ကျူးကျော်စော်ကားသူအား ကျူးကျော်စော်ကားကြကုန် (ဝါ) တုံ့ပြန်၍ လက်စားချေကြကုန်ဟူ၍ သုံးနှုန်းမိန့်ဆို ထားတော်မူခြင်းဖြစ်သည်။

ကုရ်အာန်ကျမ်းတော်မြတ်တွင် တုံ့ပြန်လက်စားချေရန်ခွင့်ပြုထားတော်မူသော မုက္ခပါဌ်တော်တိုင်းလိုလို၌ စည်းကမ်းမကျူးလွန်ရမည့်အကြောင်း၊ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ကိုင်းညွှတ်ရမည့်အကြောင်း၊ သို့ကြောက်ရွံ့ရိုသေ ကိုင်းညွှတ်သောသူများအား အလ္လာဟ်အရှင်မြတ်သည် ကူညီစောင့်ရှောက်တော်မူမည့် အကြောင်းနှင့် ကုသိုလ်တရားပွားများရမည့် အကြောင်းများကို မိန့်ဆိုထားတော်မူသည်။ ကြည့် - ကုရ်အာန် (၃း၁၉၀-၁၉၉။ ၄း၇၅-၇၆။ ၈း၁-၇။ ၉း၂၉-၃၆။ ၉း၁၁၁-၁၁၂။ ၉း၁၂၃။ ၂၂း၃၉-၄၁)။ ဤအချက်ကို စဉ်းစားဆင်ခြင်သည်ရှိသော် အစ္စလာမ်သာသနာရေးစစ်သည် မွတ်စ်လင်မ်တို့အား ရက်စက်ကြမ်းကြုတ်သောသူများ၊ ကျူးကျော်စော်ကားသူများ မဖြစ်စေလိုကြောင်း၊ သူမွန်သူမြတ်များသာ ဖြစ်စေလိုကြောင်း ထင်ရှားလှတော့၏။

(၁) **ထုတ်ပြန်ပို့ချတော်မူခြင်းအကြောင်း။**

ဤမုက္ခပါဌ်တော် (၂း၁၉၅)ကို ထုတ်ပြန်ပို့ချခြင်းအကြောင်းနှင့် စပ်လျဉ်း၍ အဗူအိုင်ယူဗ် အန်ဆွာရီက အောက်ပါအတိုင်း ထုတ်ဖော်ပြောကြား၏။

အလ္လာဟ် အရှင်မြတ်၏ အလိုတော်ဖြင့် အစ္စလာမ် သာသနာတော် အင်အား ကြီးမား၍ အစ္စလာမ် သာသနာဝင်များ များပြားလာသောအခါ အချို့ အန်ဆွာရီများက "ငါတို့ပစ္စည်းများသည် ပျက်ပြားခဲ့ပေပြီ။ ယခုမူ အလ္လာဟ် အရှင်မြတ်၏ အလိုတော်ဖြင့် အစ္စလာမ် သာသနာတော်၏ အင်အားသည် ➤➤

وَأَتِمُّوا الْحَجَّ وَالْعُمْرَةَ لِلَّهِ

၁၉၆။ ထိုမှတပါး အသင်တို့သည် ဟဂ်ျ ၁ နှင့် အုမ်ရဟ်ကို အလ္လာဟ်အရှင်ကိုသာလျှင် ရည်စူး၍ ပြည့်စုံပြီးစီးအောင် ပြုကြလေကုန်။

➤➤ ကြီးမားလာချေပြီ။ သို့ဖြစ်ရာ ငါတို့သည် မိမိတို့၏စီးပွားရေးကို ပြန်လည်ထူထောင်ကြပြီး ယခင်က ပျက်စီးခဲ့သည်များကိုလည်း ပြုပြင်ရလျှင်ကောင်းပေမည်" ဟု အချင်းချင်း တိုင်ပင်နှီးနှောကြကုန်၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် ဤမုက္ခပါဌ်တော် (၂း၁၉၅)ကို ထုတ်ပြန်ပို့ချတော်မူလေသည်။ ကြည့် - (တစ်ရ်မိသီ)။

စစ်အရေးသည် တစ်မျိုးသားလုံး၏ အရေးဖြစ်သည်။ စစ်နှင့်ရင်ဆိုင်ရသောအခါ အမျိုး၊ ဘာသာ၊ သာသနာအတွက် အသက်စည်းစိမ်ဥစ္စာကိုပါ စွန့်လျှ၍ မိမိတို့၏ရန်ကို ကာကွယ်ခြင်းသည် တမျိုးသားလုံးအပေါ်၌ အကြီးဆုံးသော တာဝန်တရပ်ပင် ဖြစ်သည်။ အသက်စွန့်၍တိုက်သော စစ်သည်တော်များရှိ ငြားသော်လည်း ထိုစစ်သည်များအတွက် လိုအပ်သော စားနပ်ရိက္ခာ အစီးအနင်းနှင့် စစ်လက်နက်များကို အသင့်စုဆောင်းရန်အလို့ငှါ ငွေရေးကြေးရေး ပြည့်စုံစွာ မရှိပါလျှင် စစ်ရေး ရှုံးနိမ့်မည်သာဖြစ်သည်။ သို့ငွေရေး ကြေးရေးကြောင့် စစ်ရေးရှုံးနိမ့်သည်ရှိသော် သာသနာတော်နှင့်တကွ တမျိုးသားလုံး ပျက်စီးရချေမည်။ ဤသည့်အတွက်ကြောင့် ဤမုက္ခပါဌ်တော် (၂း၁၉၅)တွင် "အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ (ဥစ္စာပစ္စည်းများကို) လှူဒါန်းကြလေကုန်၊ အသင်တို့သည် (မလှူဒါန်းဘဲ၊ စစ်မတိုက်ဘဲ) မိမိတို့ကိုယ်ကို မိမိတို့လက်ဖြင့် ပျက်စီးရာ ပျက်စီးကြောင်း မပြုကြကုန်လင့်" ဟု မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

သာသနာတော်အရေးတွင် အသက်နှင့်တကွ ဥစ္စာပစ္စည်းကို လှူဒါန်းသောသူများသည် အလ္လာဟ် အရှင်မြတ်၏ထံတော်၌ ဂုဏ်သိရ်ကြီးမားသောသူများ၊ လိုအင်ဆန္ဒ အဝဝနှင့် ပြည့်စုံအောင်မြင်သောသူများ ဖြစ်ကြောင်း ကုရ်အာန်ကျမ်းမြတ် (၉း၂၀။ ၆၁း၁၀-၁၃)တွင် မိန့်ဆိုထားတော်မူသည်။

① ဟဂ်ျသည် သုံးမျိုးသုံးစားရှိသည်။ (၁) "အစ်ဖ်ရာဒ်"
(၂) "ကိရာန်"
(၃) "တမတ္တုအ်"

"အစ်ဖ်ရာဒ်" ဟူသည် ဟဂ်ျ၏ နေ့ရက်များတွင် ဟဂ်ျတခုတည်း ပြုခြင်းကိုဆိုလိုသည်။

"ကိရာန်" ဟူသည် ဟဂ်ျ၏နေ့ရက်များတွင် "အုမ်ရဟ်"နှင့်ဟဂ်ျကိုပူးပေါင်း၍ ပြုလုပ်ခြင်းကိုဆိုလိုသည်။ သို့ပူးပေါင်းပြုလုပ်ရာ၌ "အုမ်ရဟ်"နှင့် ဟဂ်ျ၏ စပ်ကြားတွင် "အိဟ်ရာမ်" ဝတ်ရုံကိုချွတ်၍ အကျိုးခံစားခွင့်မရှိချေ။

"တမတ္တုအ်" ဟူသည် ဟဂ်ျ၏စပ်ကြားတွင် အုမ်ရာဟ်နှင့်ဟဂ်ျကို ပူးပေါင်း၍ပြုလုပ်ခြင်းကို ဆိုလိုသည်။ သို့ပူးပေါင်းပြုလုပ်ရာ၌ အုမ်ရဟ်နှင့်ဟဂ်ျ၏စပ်ကြားတွင် အိဟ်ရာမ်ကိုချွတ်၍ အကျိုးခံစားခွင့်ရှိသည်။ ထို့နောက်တဖန် ဇုလ်ဟစ်ဂျ်ဂျဟ် (၈)ရက်နေ့တွင် မက္ကာမြို့ရှိ "ဗလီ" ကျောင်းတော်မှစတင်၍ အိဟ်ရာမ်ကိုဝတ်ရုံပြီး အိစ်ဖ်ရာဒ်ဟဂ်ျ ပြုသူများကဲ့သို့ ဆက်လက်၍ ဟဂ်ျပြုရချေသည်။ ဟဂ်ျနှင့် အုမ်ရဟ်၏ အသေးစိပ်အကြောင်းများကို ဟိဒါယတ်ကျမ်းတွင်ရှုပါ။

အစ္စလာမ်သာသနာမထွန်းကားမီ အရဗ်လူမျိုးတို့သည် ဟဂ်ျကို ပွဲလမ်းသဘင်တစ်ခုအနေနှင့် ပြုလုပ်ကြကုန်၏။ ထိုသူတို့သည် ဟဂ်ျကိုအကြောင်းပြု၍ စုရုံးကြ၏။ အချင်းချင်း ကူညီယိုင်ပင်းကြ၏။ ဈေးလိုက်သည့်အနေဖြင့် လိုရာပစ္စည်းများကို ဝယ်ယူကြ၏။ အလ္လာဟ်အရှင်မြတ်ကိုရည်စူး၍ သာသနာရေးကျင့်စဉ်တရပ်အနေနှင့် ဟဂ်ျပြုလုပ်ကြသည် မဟုတ်ပေ။ ဤမုက္ခပါဌ်တော် (၂း၁၉၆)တွင် ➤➤

فَإِنْ أُحْصِرْتُمْ فَمَا اسْتَيْسَرَ
مِنَ الْهَدْيِ ۚ وَلَا تَحْلِقُوا
رُءُوسَكُمْ حَتَّىٰ يَبْلُغَ الْهَدْيُ
مَحِلَّهُ ۚ فَمَنْ كَانَ مِنْكُمْ مَّرِيضًا
أَوْ بِهِ أَذًى مِّنْ رَّأْسِهِ
فَفِدْيَةٌ مِّنْ صِيَامٍ أَوْ صَدَقَةٍ
أَوْ نُسُكٍ ۚ فَإِذَا أَمِنْتُمْ فَمَنْ
تَمَتَّعَ بِالْعُمْرَةِ إِلَى الْحَجِّ فَمَا
اسْتَيْسَرَ مِنَ الْهَدْيِ ۚ فَمَنْ
لَّمْ يَجِدْ فَصِيَامُ ثَلَاثَةِ أَيَّامٍ
فِي الْحَجِّ وَسَبْعَةٍ إِذَا رَجَعْتُمْ ۗ

သို့ရာတွင် အကယ်၍သာ အသင်တို့သည် (အကြောင်းတစ်စုံတစ်ခုကြောင့် မက္ကာမြို့တော်သို့) မရောက်နိုင်ကြပါမူ ကုရ်ဗာနီသားကောင်များအနက်မှ လွယ်လင့်တကူရရှိသော သားကောင်ကိုပင် (အလ္လာဟ် အရှင်မြတ်၏နာမံတော်နှင့် ကုရ်ဗာန်ပြုကြကုန် လော့)။ ထို့ပြင်တဝ *ကုရ်ဗာနီသားကောင်သည်* [၁] မိမိ၏ ရောက်သင့်ရာစခန်းဖြစ်သော (မိနာ) သို့ မရောက်မီ ကာလအတွင်း အသင်တို့သည် မိမိတို့ ဦးခေါင်းများကို မရိတ်ကြနှင့်။ သို့ရာတွင် အသင် တို့အနက်မှ တစ်ဦးတစ်ယောက်သည် *နာမကျန်း ဖြစ်ခဲ့သော်၊* [၂] သို့တည်းမဟုတ် ထိုသူ၏ဦးခေါင်း၌ တစ်စုံတစ်ခုသော အနာရောဂါ စွဲကပ်ခဲ့သော် ထိုသူသည် ဥပုသ်သီတင်း ဆောက်တည်ခြင်း အားဖြင့်သော် လည်းကောင်း၊ (သူဆင်းရဲတို့အား စားသောက် ဘွယ်ရာများကို) ပေးလှူခြင်းအားဖြင့် သော်လည်းကောင်း၊ (သားကောင် ကို အလ္လာဟ် အရှင်မြတ်၏ နာမံတော်ဖြင့်) လှီးဖြတ် ခြင်း အားဖြင့်သော် လည်းကောင်း အစားပေးကြ ရမည်။

---

➤➤ ဖော်ပြပါ မလျော်ကန်သော အမှုကိစ္စတို့ကို မပြုလုပ်ရမည့်အကြောင်း၊ အလ္လာဟ်အရှင်မြတ်ကို ရည်စူး၍ သာသနာရေး ကျင့်စဉ်တရပ်အနေဖြင့်သာ ဟဂ်ျပြုလုပ်ရမည့်အကြောင်း၊ မိန့်ဆိုထားတော်မူသည်။ ကြည့် (အဟ်ကာမွလ်ကုရ်အာန်ကျမ်း)။ ၎င်းပြင် အကြောင်းအားလျော်စွာ ဟဂ်ျပြုရာတွင် ရောင်းဝယ်ခြင်းကိုလည်း ခွင့်ပြုထားတော်မူသည်။ ကြည့် - ကုရ်အာန် (၂း၁၉၈)။

(၁) "ဟဒ်ယ" ဟူသောစကားသည် "ဟဒ်ယတ်" ဟူသောပုဒ်၏ ဗဟုဝုစ်ကိန်းဖြစ်သည်။ "ဟဒ်ယတ်" ၏ မူရင်းအဓိပ္ပါယ်မှာ လက်ဆောင်ဟူ၍ဖြစ်သည်။ ဤနေရာတွင် အလ္လာဟ်အရှင်မြတ်အားရည်စူး၍ ကအ်ဗဟ်ကျောင်းတော်သို့ ပို့ဆောင်သော ကုရ်ဗါနီသားကောင်များကိုသာ ဆိုလိုသည်။ ကြည့် - (အဟ်ကာ မုလ် ကုရ်အာန်ကျမ်း)။

(၂) အိဟ်ရာမ် ဝတ်ရုံကို ဝတ်ရုံထားသည့် အချိန်၌ ဟာဂျီတစ်ဦးသည် နာမကျန်းဖြစ်သည့် အတွက် ကြောင့်ဖြစ်စေ၊ ဦးခေါင်း၌ သန်းပေါများခြင်း၊ ဒက်ပေါက်ခြင်း၊ ဦးခေါင်း ကိုက်ခဲခြင်း . . . စသည့် ဝေဒနာ တစ်ခုခု စွဲကပ်သည့် အတွက်ကြောင့် အချိန်မကျရောက်မီ ဆံပင်ကို ရိတ်ဖြတ်ခဲ့ရသည် ရှိသော် သို့ဝတ္တရားပျက်ကွက်သည့်အတွက် ပြစ်ဒဏ်ဖြေရန်အလို့ငှါ ထိုဟာဂျီသည် ဆွဲယာမ် ဥပုသ်သုံးရက် ➤➤

تِلْكَ عَشَرَةٌ كَامِلَةٌ ۗ ذَٰلِكَ لِمَنْ لَّمْ يَكُنْ أَهْلُهُ حَاضِرِي الْمَسْجِدِ الْحَرَامِ ۚ وَاتَّقُوا اللَّهَ وَاعْلَمُوا أَنَّ اللَّهَ شَدِيدُ الْعِقَابِ ﴿١٩٦﴾

တဖန် အသင်တို့သည် ဘေးရန်ခပ်သိမ်း ကင်းငြိမ်း၍ စိတ်အေးချမ်းသာ ရှိကြသောအခါ *အုမ်ရဟ်ကို ဟဂျ်နှင့်တွဲ၍ အကျိုးခံစားသူသည်လည်း* [၁] မိမိ တတ်စွမ်းနိုင်သော ကုရ်ဗာနီသားကောင်(ကို အလ္လာဟ် အရှင်မြတ်၏ နာမံတော်နှင့် လှီးဖြတ်ရပေမည်)။ သို့သော် ကုရ်ဗာနီသားကောင် မရရှိသောသူသည် ဟဂျ်ရက်များ အတွင်းတွင် သုံးရက်၊ (ဟဂျ်ပြုပြီး မိမိတို့မြို့ရွာများသို့) ပြန်လည် ရောက်ရှိသောအခါ ခုနစ်ရက် ဥပုသ်သီလ ဆောက်တည်ရမည်။ ဤသည် (သုံးရက်နှင့် ခုနစ်ရက်ပေါင်း) ဆယ်ရက်တိတိဖြစ်၏။ ထို(ကဲ့သို့ အုမ်ရဟ်နှင့် ဟဂျ်ကို ပေါင်းစပ်၍ပြုရန်) အမိန့်တော်သည် ရိုသေကိုင်းညွတ် ထိုက်သော (ကအ်ဗဟ်) ဗလီကျောင်းတော်၏ အနီးအပါး [(ဝါ) မက္ကဟ်မြို့တော်] ၌ အိမ်ထောင်သားစု မရှိသော (အရပ်တပါးမှ လာကြကုန်သော) သူတို့အတို့သာ တည်း။ ထို့ပြင်တဝ အသင်တို့သည် (ဤအမိန့်တော် ရပ်များကို လိုက်နာ ကျင့်မူကြရာ၌) အလ္လာဟ် အရှင်မြတ်ကို ကြောက်ရွံ့ရိုသေကာ ပြစ်မှုဒုစရိုက် များမှကြဉ်ရှောင်ကြကုန်လော့။ မုချဧကန် အလ္လာဟ် အရှင်မြတ်သည် (ပြစ်မှုကျူးလွန်သူတို့အား) ပြင်းပြစွာ အပြစ်ဒဏ်ပေးတော်မူမည့်အရှင် ဖြစ်တော် မူသည်ကို သင်တို့မှတ်ယူကြကုန်။

---

➤➤ ဆောက်တည်ရမည်။ သို့တည်းမဟုတ် ဆင်းရဲသား ၆-ဦးတို့အား "ဆွဒ်ကဟ်ဖိတ္ဂ်ရ်" ခန်မျှပေးလှူရမည်။ သို့တည်းမဟုတ် ဆိတ်တကောင် ကုရ်ဗာနီပြု၍ ဆင်းရဲသားများအား ဝေပေးရမည်။ ကြည့် – ထာနဝီ။

(၁) အရဗ်လူမျိုးတို့သည် အမိုက်ခေတ်တွင် ဟဂျ်အချိန်၌ ဟဂျ်နှင့်အုမ်ရဟ် ပူးတွဲဆောင်ရွက်ခြင်းကို အလွန် ဆိုးရွားသော အမှုကိစ္စတရပ်ဟူ၍ယူဆခဲ့ကြ၏။ ဤမုကဒ္ဒပါဌ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် ယင်းသူတို့၏ ယူဆချက်ကို ပယ်ဖျက်တော်မူပြီးလျှင် ဟဂျ်နှင့် အုမ်ရဟ် ပူးပေါင်းပြုနိုင်ကြောင်း မိန့်ဆိုထားတော်မူသည်။

ဟဂျ်နှင့် အုမ်ရဟ် ပူးပေါင်း၍ ပြုလုပ်သော သူများသည် မုချ ကုရ်ဗာနီ ပြုကြရမည်။ ဟဂျ် တခုတည်း လုပ်သူအဖို့ငှင်း၊ အုမ်ရဟ် သက်သက် လုပ်သူအဖို့ငှင်း၊ ကုရ်ဗါနီပြုရန် တာဝန်မရှိပေ။ ➤➤

اَلْحَجُّ اَشْهُرٌ مَّعْلُوْمٰتٌ ۚ فَمَنْ فَرَضَ فِيْهِنَّ الْحَجَّ فَلَا رَفَثَ وَلَا فُسُوْقَ وَلَا جِدَالَ فِى الْحَجِّ ۗ وَمَا تَفْعَلُوْا مِنْ خَيْرٍ يَّعْلَمْهُ اللّٰهُ ۗ وَتَزَوَّدُوْا فَاِنَّ خَيْرَ الزَّادِ التَّقْوٰى ۖ وَاتَّقُوْنِ

၁၉၇။ ဟဂ်ျပြုလုပ်ရန်လများကား (အများ) သိရှိပြီး ဖြစ်သော လများပင်ဖြစ်ချေသည်။ [၁] သို့ဖြစ်လေရာ အကြင်သူသည် ထိုလများ၌ ဟဂ်ျပြုလုပ်ရန် စိတ်ပြဋ္ဌာန်းခဲ့ပါလျှင် ထိုသူသည် ဟဂ်ျအတွင်းတွင် (အိဟ်ရာမ် ဝတ်ရုံထားသည်အခါ၌ မေထုန်သံဝါသ ပြုလုပ်ရန်ဝေးစွ) ကာမဂုဏ်နှင့် သက်ဆိုင်သည့် ညစ်ညမ်းသော စကားကိုပင် အလျင်းမသုံးရ၊ မည်သည့် ဆိုးသွမ်းမှုကိုလည်း အလျင်းမပြုရ။ မည်သည့် ငြင်းခုံ ခိုက်ရန် ပွါးမှုကိုလည်း အလျင်းမပြုရ။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ပြုလုပ်ကြကုန်သော မည်သည့်ကောင်းမှုကိုမဆို သိရှိတော်မူလေသည်။

➤➤ ဟဂ်ျနှင့်အုမ်ရဟ် ပူးပေါင်းပြုလုပ်သော သူများသည် ငွေကြေး မတတ်စွမ်းနိုင်သည့် အတွက်ကြောင့်သော်၎င်း၊ အခြားအကြောင်း တခုခုကြောင့်သော်၎င်း ကုရ်ဗါနီ မပြုနိုင်ကြသည်ရှိသော် ထိုသူများသည် ဟဂ်ျနေ့ရက်များတွင် ၃-ရက်၊ ဟဂ်ျကိစ္စအဝဝ ပြီးသောအခါ၌သော်၎င်း၊ နေရပ်ဌါနသို့ ပြန်လည်ရောက်ရှိကြသောအခါ၌သော်၎င်း၊ ၇ရက်၊ ပေါင်း၁၀ရက်တိတိ ဥပုသ်ဆောက်တည်ကြရမည်။

ဟဂ်ျနေ့ရက်များအတွင်း ၃ရက် ဆိုဃာမ်ဥပုသ်ဆောက်တည်ရာတွင် နောက်ဆုံးဥပုသ်နေ့သည် ဇုလ်ဟဂ်ျလ၉ရက်နေ့ ဖြစ်စေရမည်။ ကြည့်-ဟိဒါယဟ်ကျမ်း

ဟဂ်ျနှင့် အုမ်ရဟ်ပူးပေါင်းဆောင်ရွက်ခွင့်သည် မက္ကာမြို့တော်သူ မြို့တော်သားများ၊ မက္ကာမြို့နှင့် အနီးအနားနေသူများအတွက် မဟုတ်ချေ၊ (ဝါ) "မီကာတ်" ဟူ၍ သတ်မှတ်ထားသော နယ်နိမိတ်အပြင်ဘက်တွင် နေထိုင်သူများ အဘို့သာဖြစ်ချေသည်။ ကြည့် - မာဂျိဒီ။

(၁) ဟဂ်ျပြုလုပ်ရန်အတွက် သတ်မှတ်ထားသောလများကား ထင်ရှားလှ၏။ အဘယ်ကြောင့်ဆိုသော် ဟဂ်ျသည် နဗီတမန်တော် အီဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)လက်ထက်တော်မှ စတင် ကျော်ကြားလာသည့်အတွက်ကြောင့်တည်း။ ဟဂ်ျပြုလုပ်ရန် နေ့ရက်များသည် သတ်မှတ်ပြီးဖြစ်ရာ ထိုနေ့ရက်များကို ရွှေ့ဆိုင်းခွင့်အလျင်းမရှိပေ။ ထိုလများမှာ (၁) ရှောင်ဝါလ်၊ (၂) ဇုလ်ကအ်ဒဟ်လ။ (၃) ဇုလ်ဟစ်ဂျဟ်လများ ဖြစ်ချေသည်။

ဟဂ်ျ၏ အဓိကကျင့်စဉ်များကို ဇုလ်ဟစ်ဂျ်ဂျဟ်လ၏ ဒုတိယ ရက်သတ္တပတ်တွင် လိုက်နာကျင့်သုံးရ၏။ သို့ရာတွင် ဟဂ်ျ၏ပဏာမဖြစ်သော အိဟ်ရာမ်ဝတ်ရုံတော်ကိုမူ ဟာဂျီလောင်းများသည် ရှောင်ဝါလ်လမှပင်စတင်၍ ဝတ်ရုံကြလေသည်။

အီဟ်ရာမ်ဝတ်ရုံတော်ကား အခြားမဟုတ်။ ဟဂ်ျနေ့ရက်များတွင် သတ်မှတ်ထားသော နေရာများ၌ ဟာဂျီလောင်းများ ဝတ်ရုံသည့် ချုပ်ရိုးမပါသော စင်ကြယ်သော ဝတ်ဖြူပိုင်းနှစ်ပိုင်းကို ဆိုလိုသည်။ ဟာဂျီလောင်းများသည် အိဟ်ရာမ်ဝတ်ရုံတော်ကို ဝတ်ရုံသည့်အချိန်မှစ၍ ဝတ်ရုံတော်ကို ချွတ်သည့် ➤➤

يٰٓاُولِى الْاَلْبَابِ ﴿١٩٧﴾

ထိုမှတပါး အသင်တို့သည် (ဟဂျ်ပြုလုပ်ရန်) ခရီးထွက်ရာ၌) စားနပ်ရိက္ခာ (ခရီးစရိတ်) စသည်များကို (လုံလောက်စွာ) ဆောင်ယူကြကုန်လော့။ အမှန်စင်စစ် အမွန်မြတ်ဆုံးသော စားနပ်ရိက္ခာ (ခရီးစရိတ်)မှာ (ဒုစရိုက်မှုတို့မှငင်း၊ အကြောင်းမဲ့ လက်ဖြန့်တောင်းရမ်း စားသုံးခြင်းမှငင်း) ကြဉ်ရှောင်ခြင်းပင်တည်း။ သို့အတွက်ကြောင့် အို–ဆင်ခြင်တုံတရားနှင့် ပြည့်စုံသော နိသမ္မညာဏ်ရှင်အပေါင်းတို့ အသင်တို့သည် ငါအရှင်မြတ်ကို ကြောက်ရွံ့ရိုသေခန့်ညားကြကုန်လော့။

---

➤➤ အချိန်ထိ အောက်ပါအတိုင်း "တလ်ဗိယဟ်" ကို ရွတ်ဆိုကြရ၏။

لبيك اللّٰهم لبيك ٥ لبيك لا شريك لك لبيك ٥ ان الحمد والنعمة لك والملك لا شريك لك

**အဓိပ္ပါယ်**

ရှေ့တော်မှောက်သို့ အသင့်ရောက်ရှိပါကြောင်း။ အို–အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်သို့ အသင့်ရောက်ရှိပါကြောင်း။ ကိုယ်တော်အရှင်မှာ ဂုဏ်ရည်တူအလျင်းမရှိပါ။ ရှေ့တော်မှောက်သို့ အသင့်ရောက်ရှိပါကြောင်း။ ချီးမွမ်းခြင်းအပေါင်းသည်ငင်း၊ ကျေးဇူးတော် အပေါင်းသည်ငင်း၊ စိုးပိုင်ခြင်းသည်ငင်း၊ ကိုယ်တော်အရှင်မြတ်အဘို့သာမုချဖြစ်ပါသည်။ ကိုယ်တော်အရှင်မြတ်မှာ တွဲဘက်ယှဉ်ဘက်ဟူ၍ အလျင်းမရှိပါ။

**ဖော်ပြချက်**

နှစ်စဉ်နှင့်အမျှ ကမ္ဘာ့အရပ်အရပ်မှ ထောင်ပေါင်းများစွာသော မွတ်စ်လင်မ်တို့သည် မက္ကာမြို့ရှိ ကအ်ဗဟ်ကျောင်းတော်သို့ လာရောက်၍ ဟဂျ်ပြုကြကုန်၏။ သို့လာရောက်ဟဂျ်ပြုကြသော မွတ်စ်လင်မ်များတွင် လူကြီး၊ လူငယ်၊ လူရွယ်၊ လူလတ်များ၊ အမျိုးသမီးများ၊ အမျိုးသားများ၊ စိတ်ဓါတ်နူးညံ့သိမ်မွေ့သူများ၊ စိတ်ဓါတ်ခက်ထန်သောသူများ၊ ဘုရင်၊ သမတ၊ အရာရှိ၊ သူဌေး၊ သူကြွယ်၊ ဆင်းရဲသား၊ ပညာရှိ၊ ပညာမဲ့ ကုန်သည် ပွဲစားအစရှိသည့် လူတန်းစားအားလုံးတို့သည် ပါဝင်ကြ၏။ သို့ဖြစ်ရာ ဟဂျ်သည် တိုင်းပြည်ပေါင်းစုံ၊ လူမျိုးပေါင်းစုံ၊ လူတန်းစားပေါင်းစုံပါဝင်သော ကမ္ဘာ့မွတ်စ်လင်မ်ညီလာခံကြီးပင် ဖြစ်ချေသည်။

ဖော်ပြပါအတိုင်း ကမ္ဘာ့အရပ်ရပ်မှ ဘာသာစကား အမျိုးမျိုးပြောဆိုကြကုန်သော၊ အဝတ်အစား အမျိုးမျိုးဝတ်ဆင်ကြကုန်သော၊ လူတန်းစားအမျိုးမျိုး ပါဝင်ကြကုန်သော ကမ္ဘာ့မွတ်စ်လင်မ်တို့သည် ကအ်ဗဟ်ကျောင်းတော်သို့ လာရောက်ကြသောအခါ၌ မိမိတို့အမြဲတစေ ဝတ်ဆင်လေ့ရှိသော အဝတ်အစားများ မဝတ်ဆင်ရတော့ဘဲ အိဟ်ရာမ်ခေါ် ဝတ်ဖြူကို ဝတ်ဆင်ကြရကုန်၏။ ဝတ်ပြုရာတွင် မိမိတို့ အမြဲတစေပြောဆိုလေ့ရှိသော ဘာသာစကားများကိုစွန့်၍ အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်ဖြစ်သော ကုရ်အာန်ကျမ်းတော်လာစကား၊ [ဝါ] အရဗီဘာသာစကားကိုသာလျှင် သုံးစွဲကြကုန်၏။ ကမ္ဘာ့အရပ်ရပ်မှ လာကြကုန်သော မွတ်စ်လင်မ်များတွင် လူတန်းစားအမျိုးမျိုး ပါဝင်ကြလင့်ကစား ဟဂျ်ပြုရာတွင် လူတန်းစားခွဲခြားမှု အလျင်းမတွေ့ရှိရပေ။ ➤➤

لَيْسَ عَلَيْكُمْ جُنَاحٌ أَنْ تَبْتَغُوا فَضْلًا مِّنْ رَّبِّكُمْ ۚ فَإِذَا أَفَضْتُم مِّنْ عَرَفَٰتٍ

၁၉၈။ (ဟဂ်ျအချိန်တွင်) အသင်တို့သည် မိမိတို့အား မွေးမြူတော် မူသော အရှင်မြတ် အထံတော်မှ အသင်တို့အဘို့ သတ်မှတ် (ပြဋ္ဌာန်းထားတော်မူသော) စီးပွားကို ① ရှာဖွေကြသည့်အတွက် အသင်တို့အပေါ်၌ တစုံတရာ အပြစ်မရှိချေ။

---

➤➤ ကမ္ဘာ့အရပ်ရပ်မှ ဤမြို့များပြားလှသော မွတ်စ်လင်မ်များ တနေရာတဌာနတွင် စုရုံးရာ၌ [ဖရာသဝါစာ] ကြမ်းကြုတ်သော စကားတခွန်းတပါဒမျှ မပြောကြရပေ။ အချင်းချင်း တဦးနှင့်တဦး ခိုက်ရန်ဒေါသ မဖြစ်ကြရပေ၊ ဟဂ်ျသည် အလ္လာဟ်အရှင်မြတ်အား ချစ်ကြည်မြတ်နိုး၍ လိုက်နာပြုကျင့်ရသော အစ္စလာမ်သာသနာ့ ကျင့်စဉ် တရပ်ဖြစ်ပေရာ အိဟ်ရာမ်ဝတ်ရုံတော်ကို ဝတ်ဆင်ထားသည့်အခါ၌ မိမိတို့၏ သားမယားတို့နှင့် မေထုန်သံဝါသ ပြုရန်ကိုဝေးစွ၊ ကာမဂုဏ်နှင့်စပ်လျဉ်းသော စကားကိုပင်အလျင်းမပြောကြရပေ။ အခြားအချိန်များတွင် အချို့ပြုလုပ်ပိုင်ခွင့်ရှိသော ကိစ္စများကိုပင်လျှင် အလ္လာဟ်အရှင်မြတ်၏ ကျောင်းတော်ပရဝုဏ်အတွင်း၌ ထွဋ်မြတ်သောလများတွင် မပြုလုပ်ကြရချေ။ ဟဂ်ျကျင့်စဉ်ကား ကောင်းမွန်မြင့်မြတ်လှပါဘိတကား။

① ဤမုက္ခပါဌ်တော်တွင်ပါရှိသော "ဖွသ္ဆ်လ" ဟူသောပုဒ်၏ အနက်သဘောမှာ စီးပွားဥစ္စာပင်ဖြစ်သည်။ ဤအရာ၌ အများမှဖတ်စ်စစ်ရ် အဋ္ဌကထာရှင်များ အဆိုညီကြလေသည်။ ကြည့်-ဂျဆ္ဆွာဆ္ဆ်။

အစ္စလာမ်သာသနာသည် လောကုတ္တရာရေးရာ အကျိုးတရားများကို ညွှန်ကြားသကဲ့သို့ လောကီရေးရာ အကျိုးတရားများကိုလည်း ညွှန်ကြားပေသည်။ အစ္စလာမ်သာသနာ၏ ကျင့်စဉ်များဖြစ်သော ဆွလာတ်၊ ဆွိယာမ်၊ ဇကာတ် စသည်တို့တွင် လောကုတ္တရာရေးရာ အကျိုးတရားများနှင့်တကွ လောကီရေးရာ အကျိုးတရားများကို ဒွန်တွဲတွေ့ရှိရသကဲ့သို့ ဟဂ်ျပြုရာတွင်လည်း လောကုတ္တရာရေးရာ အကျိုးတရားများနှင့်တကွ လောကီရေးရာ ဆိုင်ရာအကျိုးတရားများကိုလည်း တွေ့ရှိရပေသည်။

ကမ္ဘာ့ မွတ်စ်လင်မ်တို့သည် ဟဂ်ျပြုခြင်းအားဖြင့် လောကုတ္တရာအကျိုး အမျိုးမျိုးကို ခံစားကြရသည်သာမက လောကီရေးအားဖြင့် ကမ္ဘာ့မွတ်စ်လင်မ် ချစ်ကြည်ရေး၊ ညီညွတ်ရေး၊ စည်းရုံးရေး၊ နိုင်ငံရေး၊ စီးပွားရေး၊ ကမ္ဘာ့ဗဟုသုတစသည့် အကျိုးတရားများကို လက်တွေ့ခံစားကြရပေသည်။

ဘာသာရေးနှင့် ကူးသန်းရောင်းဝယ် ဖောက်ကားမှုသည် ဆန့်ကျင်သောကိစ္စနှစ်ရပ်ဟု မှတ်ယူကာ အချို့သူများသည် ဟဂ်ျပြုရာတွင် ကူးသန်းရောင်းဝယ် ဖောက်ကားမှုပြုက ဟဂ်ျပင် အထ မမြောက်ဟူ၍ပင် မှတ်ယူကြ၏။ ဤကား မမှန်ပေ။

အစ္စလာမ်သာသနာမထွန်းကားမီ အမှောင်ခေတ်တွင် အုကာဇ္ဇ၊ မဂျန်နဟ်၊ ဇုလ်မဂျာဇ် စသည်ဖြင့် ဈေးများရှိခဲ့၏။ ဟဂ်ျအချိန်တွင် ရောင်းဝယ်ဖောက်ကားမှုကို (အရဗ်မိစ္ဆာဒိဋ္ဌိတို့သည်) အပြစ်ဟူ၍ မှတ်ယူခဲ့ကြ၏။ ထိုအခါ အလ္လာဟ်အရှင်မြတ် ထံတော်မှ ဟဂ်ျအချိန်တွင် ရောင်းဝယ်ဖောက်ကားမှု ပြုခြင်းသည် အပြစ်မရှိကြောင်း မုက္ခပါဌ်တော်ကျရောက်လာ၏။ ကြည့်-ဗုခါရီကျမ်း။

အစ္စလာမ်သာသနာ၏ ကျင့်စဉ်များအနက် ဇကာတ်၊ ဟဂ်ျ၊ ဂျိဟာဒ်စသည့် ကျင့်စဉ်များသည် စီးပွားရေးနှင့် စပ်ဆက်လျက်ရှိပေသည်။ ကုရ်အာန်ကျမ်းမြတ်တွင်လည်း များစွာသော နေရာများ၌ စီးပွားရေးကို ရှာကြရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။ ကြည့်-ကုရ်အာန် (၆၂:၁၀။ ၇၃:၂၀) ➤➤

فَاذْكُرُوا اللّٰهَ عِنْدَ الْمَشْعَرِ الْحَرَامِ ۖ وَاذْكُرُوهُ كَمَا هَدٰىكُمْ ۚ وَإِنْ كُنْتُمْ مِّنْ قَبْلِهِ لَمِنَ الضَّالِّيْنَ ﴿١٩٨﴾

တဖန် အသင်တို့သည် "အရဖာတ်" [၁] မှ အစုလိုက် ပြန်လာကြသောအခါ မရှ်အရိဟရာမ် [၂] အနီးအပါး တွင် အလ္လာဟ်အရှင်မြတ်ကို တသကြကုန်။ အသင် တို့သည် ထိုအရှင်က အသင်တို့ကို ညွှန်ကြားပြသ တော်မူသည့်အတိုင်း ထိုအရှင်မြတ်အား တသကြ ကုန်။ အမှန်သော်ကား အသင်တို့သည် ယင်းကဲ့သို့ ထိုအရှင် မြတ်က ညွှန်ကြားပြသတော်မမူမီ မုချ မသိလမ်းလွဲ သူများ ဖြစ်ခဲ့ကြပေသည်။

➤➤ ဤမုကဒ္ဒပါဌ်တော်သည် ဟဂျ်ပြုချိန်တွင် ဟာဂျီများအဘို့ ခဝပ်ကိုးကွယ်မှုနှင့်ပူးတွဲပြီး ကူးသန်း ရောင်းဝယ်မှု ပြုနိုင်ခွင့်ရှိကြောင်း သာဓကတစ်ရပ်ပင် ဖြစ်ပေသည်။ သို့ [ဟဂျ်နှင့်ပူးတွဲ၍] စီးပွားရှာခြင်းဖြင့် ဟဂျ်ပြုရန်တာဝန်ရှိသော ဟာဂျီ၏စေတနာကို မည်သို့မျှ မထိခိုက်ချေ။ ကြည့်-အီဗ်နုလ်အရဗီ။

ဟဂျ်သည် စီးပွါးရှာကြံမှုကို ပိတ်ပင်တားမြစ်သည်မဟုတ် ၊ ထို့အတွက် မွတ်စ်လင်မ်တို့သည် နဗီတမန်တော်မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လာမ်) လက်ထက်တော်မှစ၍ ယနေ့တိုင်ဟဂျ်နေ့ရက်များတွင် မက္ကာနှင့်မဒီနာမြို့များတွင် ကူးသန်းရောင်းဝယ်မှု ပြုလျက်ရှိကြပေသည်။ ကြည့် ၊ ဂျဆ္စ်ဆွာဆ္စ်။

**မှတ်ချက်**။ ။ ဟဂျ်ပြုရာတွင် ဟဂျ်သည်အဓိက ဖြစ်စေရမည်။ ကူးသန်းရောင်းဝယ် ဖောက်ကားမှုကိုကား အကြောင်းအားလျော်စွာ ခွင့်ပြုထားခြင်းမျှသာ ဖြစ်ပေသည်။

(၁) "အရဖာတ်" ဟူသည်ကား မက္ကာမြို့မှ တွာအိဖ်မြို့သို့ သွားရာလမ်းတွင် မက္ကာမြို့၏အရှေ့ဘက် ၁၂-မိုင် အကွာအဝေး၌ ကျယ်ပြန့်လှသော ကွင်းပြင်ကြီး၏အမည်ဖြစ်သည်။ ထိုကွင်းပြင်တွင် အရဖာတ်အမည်ရှိသော တောင်တခုရှိ၏။ ထိုတောင်သည် မြေပြင်မှ ကိုက် ၂၀၀ ခန့်မြင့်၏။ ကမ္ဘာ့အရပ်ရပ်မှ ဟဂျ်ပြုရန်လာကြကုန်သော ထောင်ပေါင်းများစွာသော မွတ်စ်လင်မ်တို့သည် ဇိလ်ဟစ်ဂျ်ဂျဟ်လ ၉-ရက်နေ့တွင် ထိုကွင်းပြင်၌ လာရောက် တည်းခိုကြ၏။

ဟာဂျီများသည် ဇိလ်ဟစ်ဂျ်ဂျဟ်လ ၈-ရက်နေ့တွင် မက္ကာမြို့မှ မီနာမြို့သို့ ခရီးထွက်ကြ၏။ ထို့နောက်တဖန် ဇိလ်ဟစ်ဂျ်ဂျဟ်လ ၉-ရက်နေ့တွင် မီနာမြို့မှ အရဖာတ်ကွင်းပြင်သို့ ဆက်လက်ခရီးထွက်ကြရ၏။ ဟာဂျီများသည် ဇုဟ်ရ်အချိန်မှစ၍ အဆွ်ရ်၏ နောက်ဆုံးအချိန်ထိ အရဖာတ်တွင် ရပ်ဆိုင်းလျက် အလ္လာဟ် အရှင်မြတ်အား ခဝပ်ရိုကျိုးရှိခိုးကြ၏။ အရှင်မြတ်၏ ဂုဏ်တော်များကို မွမ်းကြ၏။ အရှင်မြတ်ထံတော်၌ ဆုမွန်တောင်းဆိုကြ၏။

ဟာဂျီများသည် အရဖာတ်၌ ဇုဟ်ရ်နှင့် အဆွ်ရ် ဆွလာတ်ဝတ်ပြုမှုများကို ပူးပေါင်း၍ ပြုကြ၏။ ထို့နောက် ဟာဂျီများသည် အရဖာတ်မှ "မရှ်အရ်ဟရာမ်" ခေါ် "မုဇ်ဒလိဖဟ်" သို့ ဆက်လက် ခရီးထွက်ကြ၏။ ဟာဂျီများသည် မုဇ်ဒလိဖဟ်၌ မဃ်ရိဗ်နှင့် အိရှာ ဆွလာတ် ဝတ်ပြုမှုများကို ပူးပေါင်း၍ အိရှာအချိန်၌ ဝတ်ပြုကြ၏။ ဟာဂျီများသည် ထိုည၌တွင် မုဇ်ဒလိဖဟ်၌ပင် တည်းခိုကြ၏။

ဟဂျ်ပြုရာတွင် မလုပ်မနေရသောဖရည်ဝတ္တရားတာဝန်များမှာ (၁)အိဟ်ရာမ်ဝတ်ရုံခြင်း။ (၂)ဇိလ်ဟစ်ဂျ်ဂျဟ်လ ၉-ရက်နေ့တွင် အရဖာတ်တွင်ရောက်ရှိခြင်း၊ (၃) တွဝါဖုလ်ဖရည်ဝ ခေါ် ကအ်ဗဟ်ကျောင်းတော်ကို ➤➤

ثُمَّ أَفِيضُوا مِنْ حَيْثُ أَفَاضَ النَّاسُ وَاسْتَغْفِرُوا اللَّهَ ۚ إِنَّ اللَّهَ غَفُورٌ رَّحِيمٌ ﴿١٩٩﴾

၁၉၉။ ထို့နောက် လူများအစုလိုက်ပြန်လာကြသော နေရာ (အရဖာတ်) မှ အသင်တို့သည်လည်း (သွား ရောက်၍) ပြန်လာကြကုန်လော့။ ၁ ထိုမှတပါး အသင်တို့သည် (မိမိတို့အပြစ်များမှ) လွတ်ငြိမ်း ချမ်းသာခွင့်ရရှိရန်အလို့ငှာ အလ္လာဟ်အရှင်မြတ်၏ အထံတော်၌ လျှောက်ထား အသနားခံကြကုန်လော့။ မုချဧကန် အလ္လာဟ်အရှင်မြတ်သည် အဖန်တလဲလဲ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူထသော အရှင်၊ အစဉ် သနားကြင်နာ ညှာတာတော် မူထသောအရှင် ဖြစ်တော်မူလေသတည်း။

---

➤➤ လှည့်ပတ်ခြင်းတို့ဖြစ်သည်။ ဖော်ပြပါ တာဝန်အရပ်ရပ်အနက် အရဖာတ်သို့ ရောက်ရှိခြင်းသည် ပို၍ အရေးကြီးလှပေသည်။

(၂) မရှ်အရိဟာရာမ်သည် "မုဇ်ဒလိဖဟ်" ကို ဆိုလိုသည်။ ရိုသေမြတ်နိုးအပ်သော အထိမ်းအမှတ် ဟူသော အနက်ပေးသည်။ မုဇ်ဒလိဖဟ်သည် မက္ကာမြို့၏ အရှေ့ဘက် ၆-မိုင်အကွာတွင် တည်ရှိသည်။ "မုဇ်ဒလိဖဟ်" တွင် ကုဇဟ်အမည်ရှိသော တောင်တခုရှိသည်။ ထိုတောင်ခြေ၌တည်းခိုခြင်းသည် မြတ်၏။ နဗီတမန်တော်မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)နှင့် သာဝကကြီးများသည် ထိုတောင်ခြေ၌ တည်းခိုလေ့ရှိကြသည်။

ဟာဂျီများသည် ဇိလ်ဟစ်ဂျ်ဂျဟ်လ ၉-ရက်နေ့တွင် အရဖာတ်မှ ပြန်လာပြီး မုဇ်ဒလိဖဟ်၌ တည၌တည်းခိုကြ၏။ ထို့ဌာနတွင် ဟာဂျီများသည် မဃ်ရိဗ်နှင့်အိရှာ ဆွလာတ်များကို ပူးပေါင်းပြီး ဝတ်ပြုကြ၏။

(၁) ကုရိုက်ရှ်၊ ကနာနဟ်၊ ဂျုဒိုင်လဟ်၊ ကိုက်စ် . . . စသည့်မျိုးနွယ်တို့က "ငါတို့သည် အလ္လာဟ်အရှင်မြတ်၏ မြို့တော်သားများ၊ အလ္လာဟ်အရှင်မြတ်၏ကျောင်းတော်၌ ဝေယျာဝစ္စကို ဆောင်ရွက်သူများဖြစ်ကြသည်" ဟူ၍ ပြောဆိုကြ၏။ ယင်းသူတို့သည် အခြားအရပ် လူမျိုးများနှင့်အတူ ကျောင်းတော်ပရဝုဏ်အပြင် အရဖာတ်သို့ သွားရောက်တည်းခိုရခြင်းမှာ မိမိတို့၏ဂုဏ်သိက္ခာကို ထိခိုက်စေသည်ဟု ယူဆကာ အရဖာတ်သို့မသွားကြဘဲ ကျောင်းတော်ပရဝုဏ်အနီး၌ရှိသော "မုဇ်ဒလိဖဟ်" ၌ပင်တည်းခိုကြ၏။

**သာဓက**

(ဟဂ်ျပြုရာတွင်) ကုရိုက်ရှ်မျိုးနွယ်နှင့် ထို(ကုရိုက်ရှ်)နှင့် အယူဝါဒတူသူများသည် မုဇ်ဒလိဖဟ်၌ တည်းခိုကြ၏။ ယင်းသူတို့သည် မိမိတို့ ကိုယ်ကို "ဟမ်စ်" (သာသနာရေးကို မြဲမြံစွာ ဆောက်တည်သူများ)ဟူ၍ အမည်ပေးကြ၏။ အခြားအရပ်အမျိုးသားအားလုံးတို့သည် အရဖာတ်၌တည်းခိုကြ၏။ အစ္စလာမ်သာသနာ ထွန်းကားလာသောအခါ၌ အလ္လာဟ်အရှင်မြတ်က မိမိ၏နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား အရဖာတ်သို့ သွားရောက်တည်းခိုရမည့်အကြောင်း၊ ထိုအရဖာတ်မှပင် (မီနာသို့) ပြန်လှည့် ရမည့်အကြောင်း မိန့်ဆိုတော်မူလေသည်။ ဗုခါရီကျမ်း။

ဆိုလိုသည်ကား အစ္စလာမ်သာသနာ၏ ကျင့်စဉ်ကျင့်ရပ်များကို လိုက်နာကျင့်သုံးရာတွင် ➤➤

فَإِذَا قَضَيْتُم مَّنَاسِكَكُمْ فَاذْكُرُوا اللَّهَ كَذِكْرِكُمْ آبَاءَكُمْ أَوْ أَشَدَّ ذِكْرًا ۗ فَمِنَ النَّاسِ مَن يَقُولُ رَبَّنَا آتِنَا فِي الدُّنْيَا وَمَا لَهُ فِي الْآخِرَةِ مِنْ خَلَاقٍ ﴿٢٠٠﴾

၂၀၀။ ထို့နောက် အသင်တို့သည် (ဟဂျ်နှင့် သက်ဆိုင်သော) မိမိတို့၏ *ကျင့်စဉ်ကျင့်ရပ်များကို ဆောင်ရွက်ပြီးကြသောအခါ၌* [၁] (အတိတ်ခေတ်များ တွင်) မိမိတို့၏ဘိုးဘေးများကို တ,သခြင်း ပြုကြသ ကဲ့သို့ အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား တ,သကြကုန်။ ဤမျှမက (မိမိတို့၏ဘိုးဘေးများကို တ,သခြင်းပြုကြသည်ထက်ပင်) ပိုမို၍ (အလ္လာဟ် အရှင်မြတ်အား) အောက်မေ့ တ,သကြကုန်။ သို့သော် လူသားတို့အနက် အချို့သည် (အလ္လာဟ်အရှင်မြတ် ထံတော်၌) အို-ကျွန်တော်မျိုးတို့အား မွေးမြူတော်မူ သောအရှင်၊ ကျွန်တော်မျိုးတို့အား (ပေးလိုတော်မူ သောကောင်းကျိုးများကို) *ဤဘဝ၌ပင်(လောလော ဆယ်) ပေးသနားတော်မူပါဟူ၍ဆုပန်ကြကုန်၏၊* [၂] သို့ဖြစ်ရာ ထိုကဲ့သို့ ဆုပန်သောသူများအဖို့ နောင် တမလွန် ဘဝတွင်ပင် (အကျိုးခံစားရန်) တစုံတရာ ဝေစုဝေပုံ ရှိမည်မဟုတ်ပေ။

---

➤➤ "ငါသာသည်၊ သူသာသည်" ဟူသော ခွဲခြားသောစိတ်၊ မာနစိတ် အလျင်းမထားရသည့်အကြောင်း၊ အများမွတ်စ်လင်မ်တို့သည် ဘာသာရေး ကိစ္စအရပ်ရပ်ကို တညီတညွတ်တည်း လိုက်နာဆောင်ရွက် ကြမည့် အကြောင်းကို ထုတ်ဖော်မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

(၁) ဟာဂျီများသည် မုဇ်ဒလိဖဟ်မှပြန်လာပြီး မီနာမြို့၌ ဇိလ်ဟစ်ဂျ်ဂျဟ်လ ၁၀-ရက်၊ ၁၁-ရက်၊ ၁၂-ရက် (အချို့ပညာရှင်များ အဆိုအရ ၁၃-ရက်) နေ့များတွင် တည်းခိုနေကြရ၏။ ထိုနေ့ရက်များတွင် ဟာဂျီများသည် ကျောက်ခဲပစ်ရန် သတ်မှတ်ထားသော "ဂျမ်ရဟ်" ခေါ် နေရာများသို့ သွားရောက်ကြပြီး ကျောက်ခဲများပစ်ကြရ၏။

အစ္စလာမ်သာသနာ မထွန်းကားမီ အရပ်မျိုးနွယ်အသီးသီးတို့သည် ဟဂျ်ကျင့်စဉ်များကို ဆောင်ရွက် ကြပြီးသောအခါ မီနာတွင် စုရုံးကြပြီး မိမိတို့၏ အဘ၊ အဘိုး၊ အဘေး၊ အဘွေး၊ အဘဲ၊ အဘီ၊ အဘော် စသည်တို့၏ ဂုဏ်ပုဒ်များကို ထုတ်ဖော်ပြောဆိုကြ၏။ အချင်းချင်း ဂုဏ်တုဂုဏ်ပြိုင်ကြ၏။ အစ္စလာမ် သာသနာ ထွန်းကားလာသောအခါ ထိုထိုသော မလျော်ကန်သည့် အမှုများကိုမပြုကြဘဲ အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကိုသာ ထုတ်ဖော်မြွက်ဆို ကြရမည့်အကြောင်း ဤမုဗာရက်ပါဌ်တော် (၂:၂၀၀)တွင် ထုတ်ဖော်မိန့်ဆို ထားတော်မူသည်။

(၂) လူ့လောကတွင် အချို့ လူသားတို့သည် အလ္လာဟ်အရှင်မြတ်ကို ယုံကြည်လင့်ကစား နောင်တမလွန် ဘဝတွင် ခံစားရမည့်ကောင်းကျိုးများကိုမူ အလျင်းမယုံကြည်ကြပေ။ ဤကဲ့သို့ လောကီရေးများတွင် ➤➤

وَمِنْهُمْ مَّنْ يَّقُوْلُ رَبَّنَآ اٰتِنَا فِى الدُّنْيَا حَسَنَةً وَّفِى الْاٰخِرَةِ حَسَنَةً وَّقِنَا عَذَابَ النَّارِ ﴿٢٠١﴾

**၂၀၁။** ထို့ပြင်တဝ ယင်းတို့အနက်မှပင် အချို့သော ပုဂ္ဂိုလ်တို့သည် (ပစ္စုပ္ပန်နှင့် တမလွန်ဘဝ နှစ်ဌာနလုံး၏ သုခချမ်းသာများကိုရှေးရှုကာ) အို-ကျွန်တော်မျိုးတို့အားမွေးမြူတော်မူသောအရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့ကို ဤပစ္စုပ္ပန်ဘဝ၌ရှင်း၊ နောင်တမလွန်ဘဝ၌ရှင်း၊ (နှစ်ဘဝလုံး၌ပင်) ကောင်းကျိုးချမ်းသာမင်္ဂလာများကို ပေးသနားတော်မူပါ။ ငရဲမီး၏ ဘေးဒဏ်မှလည်း ကယ်ဆယ်တော်မူပါဟု ဆုတောင်းပတ္ထနာ ပြုကြလေသည်။ [၁]

---

➤➤ နှစ်မွှန်းလျက်ရှိသောသူတို့၏ လိုအင်ဆန္ဒအဝဝနှင့် ဆုမွှန်များသည်လည်း သဘာဝအလျောက် လောကီအကျိုးတရားများနှင့်သာ ဆက်စပ်လျက်ရှိပေမည်။

အစ္စလာမ်သာသနာ မထွန်းကားမီ ဘုရားအများ ကိုးကွယ်သော အရဗ်မုရှ်ရိတ်တို့သည်လည်း ဤနည်းနှင်နှင် လောကီအကျိုးများကိုသာ ရှေးရှုပြီး ကုလားအုဋ်၊ သိုး၊ ဆိတ် စသည်များကို ရရှိရန်နှင့် မိမိတို့၏ ရန်သူများကို အောင်နိုင်ရန် အလ္လာဟ်အရှင်မြတ်ထံ ဆုပန်ကြ၏။ နောင်တမလွန်ဘဝ၏ ကောင်းကျိုးချမ်းသာမှုများကိုကား အလျင်း ဆုတောင်းကြသည်မရှိပေ။ သို့ဖြစ်ရာ ယင်းကဲ့သို့ နောင်တမလွန်ဘဝကို ငြင်းပယ်သူများအဘို့ နောင်တမလွန်ဘဝတွင် ကောင်းကျိုးချမ်းသာခွင့်သည် အဘယ်မှာလျှင် ရှိနိုင်အံ့နည်း။

ကြည့်-(ကုရ်တုဗီ)။

① လူ့လောကတွင် အချို့လူသားတို့သည် ပစ္စုပ္ပန်နှင့်တမလွန်ဘဝ နှစ်ဌာနလုံး၏ ကောင်းကျိုးချမ်းသာများ ရစိမ့်သောငှာ အလ္လာဟ်အရှင်မြတ်ထံတော်၌ ဆုပန်ကြ၏။ ဤသူများကား မွတ်စ်လင်မ်များတည်း။

အစ္စလာမ် သာသနာသည် နှစ်ဘဝ၏ကောင်းကျိုးကို ညွှန်ကြား၏။ မွတ်စ်လင်မ်တို့သည်လည်း နှစ်ဘဝ၏ကောင်းကျိုးများကို လိုလားကြ၏။ သို့လိုလားကြသည်နှင့်အညီ နှစ်ဘဝ၏ကောင်းကျိုးချမ်းသာများကို ရစိမ့်သောငှာ အလ္လာဟ်အရှင်မြတ်ထံတော်၌ အမြဲတစေ ဆုပန်ကြ၏။ ဆုတောင်းပတ္ထနာ ပြုကြ၏။

နဗီတမန်တော် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) အများဆုံး တောင်းဆိုလေ့ရှိသော ဆုမွှန်မှာ အို- ကျွန်တော်မျိုးတို့အား မွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်၊ ကျွန်တော်မျိုးတို့အား ပစ္စုပ္ပန်ဘဝ၌ရှင်း၊ တမလွန်ဘဝ၌ရှင်း၊ ကောင်းကျိုးချမ်းသာ အဖြာဖြာကို ပေးသနားတော်မူပါ။ ကျွန်တော်မျိုးတို့အား ငရဲမီးဘေးမှလည်း ဖယ်ရှားတော်မူပါဟု ဆုတောင်းလေသည်။

"ဟစနဟ်" ဟူသော စကားသည် နှစ်ဘဝ၏ စည်းစိမ်ချမ်းသာကောင်းကျိုး အဖြာဖြာ၏အနက်ကို ဆောင်သည်။ ကြည့် (ကုရ်တုဗီ) (ရှုဟုလ်မအာနီ)။

أُولَٰٓئِكَ لَهُمْ نَصِيبٌ مِّمَّا كَسَبُوا۟ ۚ وَٱللَّهُ سَرِيعُ ٱلْحِسَابِ ﴿٢٠٢﴾

၂၀၂။ (နှစ်ဘဝ၏ သုခချမ်းသာများကို ဆုတောင်းပတ္ထနာပြုကြသော) ဤသူများသည် နှစ်ဘဝလုံး၌ပင် မိမိတို့ပြုကျင့်ခဲ့ကြသော အကျင့်သီလတို့၏ ကုသိုလ်အကျိုးများကို ရရှိကြမည့်သူများတည်း။ အလ္လာဟ်အရှင်မြတ်သည် ဆောလျင်စွာ စစ်ဆေးမေးမြန်းတော်မူမည့်အရှင်ဖြစ်တော်မူ၏။

وَٱذْكُرُوا۟ ٱللَّهَ فِىٓ أَيَّامٍ مَّعْدُودَٰتٍ ۚ فَمَن تَعَجَّلَ فِى يَوْمَيْنِ فَلَآ إِثْمَ عَلَيْهِ وَمَن تَأَخَّرَ فَلَآ إِثْمَ عَلَيْهِ ۚ لِمَنِ ٱتَّقَىٰ ۗ وَٱتَّقُوا۟ ٱللَّهَ وَٱعْلَمُوٓا۟ أَنَّكُمْ إِلَيْهِ تُحْشَرُونَ ﴿٢٠٣﴾

၂၀၃။ ထိုမှတပါးတုံ အသင်တို့သည် သတ်မှတ်ထားသောနေ့များတွင် [၁] အလ္လာဟ်အရှင်မြတ်အား သတိရကြကုန်လော့။ သို့ရာတွင် အကြင်သူသည် နှစ်ရက်အတွင်း၌ပင် [၂] အလျင်တဆောပြန်ခဲ့သော် ထိုသူ့အပေါ်ဝယ် တစုံတရာအပြစ်မရှိချေ။ ထိုနည်းတူစွာ အကြင်သူသည် နှောင့်နှေးကြန့်ကြာခဲ့ပါမူ၊ ထိုသူ့အပေါ်၌လည်း တစုံတရာ အပြစ်မရှိချေ။ (ယင်းကဲ့သို့ခွင့်ပြုခြင်းသည်) ပြစ်မှု ဒုစရိုက်တို့မှ ရှောင်ရှားသူတို့အတွက်သာဖြစ်သည်။ ထို့ကြောင့် အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကို ကြောက်ရွံ့ရိုသေကာ ပြစ်မှုဒုစရိုက်တို့ကို ကြဉ်ရှောင်ကြကုန်။ ထိုမှတပါး အသင်တို့သည် ထိုအရှင်မြတ်၏ အထံတော်၌ပင် စုရုံးကြရမည်ကိုလည်း (ကောင်းစွာ) သိထားကြကုန်။

---

(၁) ရေတွက်ထားသော နေ့ရက်များဟူသည်ကား ဇီလ်ဟစ်ဂျ်ဂျဟ်လ-၁၀၊ ၁၁၊၁၂၊ ရက်နေ့များကိုဆိုလိုသည်။ ယင်းနေ့ရက်များကို "အိုင်ယာမိတရှ်ရီက်" ဟုလည်းခေါ်သည်။ ထိုနေ့ရက်များတွင် ဟာဂျီများသည် မီနာ၌ တည်းခိုလျက်ရှိကြ၏။ မီနာသည် မက္ကာမြို့၏ အနောက်မြောက်ဘက်တွင် ၄-မိုင်အကွာ၌တည်ရှိ၏။

ဟာဂျီများသည် ဇီလ်ဟစ်ဂျ်ဂျဟ်လ ၁၀-ရက်နေ့ ဆွာလာတ် ဖဂျ်ရ်ဝတ်ပြုပြီး မုဇ်ဒလိဖဟ်မှ ဆက်လက်ခရီးထွက်ကြရာ နံနက်ပိုင်း၌ပင် မီနာသို့ ဆိုက်ရောက်လာကြ၏။ မီနာတွင် ဇီလ်ဟစ်ဂျ်ဂျဟ်လ-၁၂ရက်နေ့အထိ တည်းခို၍ နေကြရ၏။ ဟာဂျီများသည် ကုရ်ဗာနီပြုခြင်း၊ ဆံရိပ်ခြင်း၊ ခဲပစ်ခြင်း၊ အိဟ်ရာမ်ဝတ်ရုံတော်ကို ချွတ်ခြင်း စသည်တို့ကိုလည်း မီနာ၌ပင် ပြုလုပ်ကြကုန်၏။

(၂) မီနာမှမက္ကာမြို့တော်သို့ ဟာဂျီများပြန်ရန်နည်းကားနှစ်နည်းရှိ၏။ မီနာ၌ ဇီလ်ဟစ်ဂျ်ဂျဟ်လ ၁၀-ရက်၊ ၁၁-ရက်နေ့များတွင်နေပြီး ၁၂-ရက်နေ့ညနေတွင် မက္ကာမြို့သို့ ပြန်လိုကပြန်နိုင်၏။ သို့တည်းမဟုတ် ➤➤

وَمِنَ النَّاسِ مَن يُعْجِبُكَ قَوْلُهُ فِي الْحَيَاةِ الدُّنْيَا وَيُشْهِدُ اللَّهَ عَلَىٰ مَا فِي قَلْبِهِ وَهُوَ أَلَدُّ الْخِصَامِ ﴿٢٠٤﴾

**၂၀၄။** ထို့ပြင်တဝ၊ လူတို့အနက်အချို့ ဤသို့လည်း ရှိ၏။ လောကီရေးနှင့်စပ်လျဉ်း၍ ထိုသူ၏(ဖွဲ့နွဲ့) ပြောဆိုသောစကားများသည် အသင့်အားနှစ်သိမ့်စေ၏။ ဤမျှမကသေး၊ ထိုသူသည် မိမိ၏စိတ်တွင်းရှိ စကားများ (မှန်ကန်ကြောင်း)နှင့်စပ်လျဉ်း၍ အလ္လာဟ် အရှင်မြတ်ကိုပင် သက်သေထား၏။ အမှန်သော်ကား ထိုသူသည် ရန်သူများအနက် ပိုမိုလွန်ကဲသော ရန်သူကြီးပင် ဖြစ်ပေသည်။

وَإِذَا تَوَلَّىٰ سَعَىٰ فِي الْأَرْضِ لِيُفْسِدَ فِيهَا وَيُهْلِكَ الْحَرْثَ وَالنَّسْلَ ۗ وَاللَّهُ لَا يُحِبُّ الْفَسَادَ ﴿٢٠٥﴾

**၂၀၅။** ထိုမျှမကသေးချေ၊ ထို(မုနာဖစ်က်)သည် (အသင့်ထံမှ) *ပြန်သွားသောအခါ* [၁] မြေပြင်ဝယ် ပျက်စီးကြောင်းများကို ပြုမူရန်ငှင်း၊ လယ်ယာ ကိုင်းကျွန်းများနှင့် (ကျွဲနွား) *တိရစ္ဆာန်များကို* [၂] ဖျက်ဆီးရန်ငှင်း၊ ကြိုးပမ်း အားထုတ်လေသည်။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် (ယင်းကဲ့သို့) ဖျက်ဆီးခြင်းကို စိုးစဉ်းမျှ နှစ်သက်တော်မမူပေ။

---

➤➤ မီနာ၌ ဇိလ်ဟစ်ဂျ်ဂျဟ်လ ၁၂-ရက် ကုန်သည်အထိ စောင့်ဆိုင်းနေပြီး ၁၃-ရက်နေ့ကျမှ မက္ကာမြို့သို့ ပြန်လိုကလည်းပြန်နိုင်၏။ ဖော်ပြပါ နှစ်နည်းလုံးသည် ပြုလုပ်ပိုင်ခွင့်ရှိသော နည်းများပင်ဖြစ်ချေသည်။

ဤအကြောင်းနှင့် စပ်လျဉ်း၍ အစ္စလာမ်သာသနာ မထွန်းကားမီ အမိုက်ခေတ်တွင် အရဗ်လူမျိုးတို့သည် နှစ်ဂိုဏ်းကွဲလျက်ရှိခဲ့ကြ၏။ အချို့တို့သည် မီနာမှ ဆောလျင်စွာ ပြန်ခြင်းကို အပြစ်ရှိသည်ဟု ယူဆကြ၏။ သို့ယူဆခြင်းသည် မှားကြောင်း ၊မီနာမှ ဆောလျင်စွာ ပြန်ခြင်းသည် အပြစ် မဟုတ်ကြောင်း ၊ ထို့အတူ မီနာ၌ စောင့်ဆိုင်းနေခြင်းသည်လည်း အပြစ်မဟုတ်ကြောင်းကို ကုရ်အာန်ကျမ်းမြတ် (၂:၂၀၃) တွင် ထုတ်ဖော် မိန့်ဆိုထားတော်မူသည်။

(၁) "တဝလ္လီ" ဟူသောပုဒ်သည် (က) ပြန်လှည့်ခြင်း၊ (ခ) အာဏာရရှိခြင်း ဟူသောအနက်ကို ဆောင်သည်။ ကြည့်-(အလ်မနာရ်)၊ (ရူဟုလ်ဗယာန်)။ ဤမုက္ခပါဌ်တော် (၂:၂၀၅)တွင် ဖော်ပြပါ အဓိပ္ပါယ်နှစ်ရပ်လုံးကို ကောက်ယူနိုင်သည်။

ဆိုလိုသည်ကား မုနာဖစ်က်တို့သည် ပရိသတ်ရှေ့မှောက်တွင် တမျိုး၊ ကွယ်ရာတွင်တဖုံ၊ (တနည်း:) အာဏာမရမီတမျိုး၊ အာဏာရရှိပြီးနောက်တဖုံ၊ အမျိုးမျိုး လိမ်လည်လှည့်ဖြားကြသည်။

(၂) "ဟရ်ဆ်" "နတ်စ်လ်" ဟူသောပုဒ်များနှင့် စပ်လျဉ်း၍ အဋ္ဌကထာရှင်များသည် အနက်အမျိုးမျိုးဖွင့်ကြသည်။ အဇ်ဟရီက "ဟရ်ဆ်" ၏အလိုမှာ မိန်းမများဖြစ်သည်။ "နတ်စ်လ်" ၏အလိုမှာ သားသမီးများဖြစ်သည်ဟု ယူဆ၏။ ဂျအ်ဖရ်ဆွာဒိက်က "ဟရ်ဆ်" ၏အလိုမှာ သာသနာဖြစ်သည်။ "နတ်စ်လ်" ၏အလိုမှာ ➤➤

وَإِذَا قِيلَ لَهُ اتَّقِ اللَّهَ أَخَذَتْهُ الْعِزَّةُ بِالْإِثْمِ فَحَسْبُهُ جَهَنَّمُ ۚ وَلَبِئْسَ الْمِهَادُ ﴿٢٠٦﴾

၂၀၆။ ထိုမှတပါးတုံ မည်သည့်အခါမဆို (မွတ်စ်လင်မ် တဦးတယောက်က) ထို(မုနာဖစ်က်)ကို အသင်သည် အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့ပါလေဟု ပြောဆိုသည်ရှိသော် ထိုသူ့အား (ထိုသူ၏)ဂုဏ်မာန သည် မကောင်းမှုဒုစရိုက်ဘက်သို့ ဆွဲဆောင်သွားလေ ၏။ သို့ဖြစ်ရာ ထိုသူအတို့ "ဂျဟန္နမ်" ငရဲသည် လုံလောက်၏။ အမှန်သော်ကား (ဂျဟန္နမ် ငရဲသည်) အလွန်ဆိုးရွားလှသောနေရာ ဌာနဖြစ်ပေသည်။

وَمِنَ النَّاسِ مَنْ يَشْرِي نَفْسَهُ ابْتِغَاءَ مَرْضَاتِ اللَّهِ ۗ وَاللَّهُ رَءُوفٌ بِالْعِبَادِ ﴿٢٠٧﴾

၂၀၇။ ထို့ပြင်တဝ လူတို့အနက် အချို့သည် အလ္လာဟ်အရှင်မြတ် နှစ်မြို့တော်မူခြင်းကို ရစိမ့် သောငှာ မိမိ၏အသက်ကိုပင် စွန့်လှူ၏။ အမှန် သော်ကား အလ္လာဟ်အရှင်မြတ်သည် ဤသို့ (စေတနာဖြူစင်သော) ကျွန်များကို အလွန်ချစ်ကြင် သနားတော်မူသောအရှင် ဖြစ်တော်မူ၏။ [1]

---

➤➤ သားသမီးများဖြစ်သည်ဟု ယူဆသည်။ မုဂျာဟိဒ်ကမူ "ဟရ်ဆ်" ၏အလိုမှာ မြေထွက် ကောက်ပဲ သီးနှံများဖြစ်သည်။ "နတ်စ်လ်" ၏အလိုမှာကား သတ္တဝါများဖြစ်သည်ဟု ယူဆသည်။

နောက်ဆုံးအဆိုသည် ပိုမိုသင့်မြတ်လှပေသည်။ သတ္တဝါများနှင့် ကမ္ဘာ့စားနပ်ရိက္ခာများကို ဖျက်ဆီး ခြင်းထက် ဆိုးရွားသော ဖျက်ဆီးမှုကား အဘယ်မှာ ရှိနိုင်တော့အံ့နည်း။

(၁) **ထုတ်ပြန်ပို့ချခြင်းအကြောင်း**

ဆူဟိုက်ဗ်အီဗ်နုစနာန်ရူမီသည် မက္ကာမြို့သို့ ရောက်ချိန်တွင် ဆင်းရဲနွမ်းပါးလှ၏။ ထို့နောက် ထိုပုဂ္ဂိုလ်သည် ဥစ္စာပစ္စည်းကုံလုံကြွယ်ဝသူတဦးဖြစ်လာ၏။ အစ္စလာမ်သာသနာကိုလည်း သက်ဝင်ယုံကြည်လာ၏။

နောက်ဆုံးတွင် မက္ကာမြို့သား အရဗ်မိစ္ဆာဒိဋ္ဌိတို့၏ ညှဉ်းပန်းနှိပ်စက်မှု အမျိုးမျိုးတို့ကြောင့် မခံမရပ်နိုင်ဖြစ်ပြီး မက္ကာမြို့ကို စွန့်လွှတ်၍ မဒီနာမြို့သို့ ထွက်ခွာသွားရလေ၏။ (ထိုအချိန်တွင် ဆူဟိုက်ဗ်၏ အသက်မှာ အနှစ်(၁၀၀)တင်းတင်းရှိချေပြီ။ မဒီနာမြို့သို့ သွားလမ်းတွင်ပင် အချို့မက္ကာမြို့သား မိစ္ဆာဒိဋ္ဌိတို့နှင့် ရင်ဆိုင်တွေ့ဆုံလေသည်။ ထိုအခါ ဆူဟိုက်ဗ်က ဟယ်-အချင်းတို့ငါကား နာမည်ကြီး ဒူးလေးသမားတဦးဖြစ်၏။ ငါ၏မြှားတလက်သည် အသင်တို့အနက် လူတဦး၏ရင်ခွင်ကို ထိုးဖောက်နိုင်၏၊ ငါ၏မြှားများမကုန်သမျှ အသင်တို့သည် ငါ၏အနီးသို့ မချဉ်းကပ်နိုင်၊ ငါ၏ထံ၌ ဓားလက်နက်လည်းရှိသေး၏။ (မြှားကုန်သည့်အခါ) ဓားလက်နက်ဖြင့် ခုခံဦးအံ့၊ ထို့နောက်မှသာ အသင်တို့ သဘောအတိုင်း ငါ့အား ထိပါးနိုင်ကြမည်။ (အချင်းတို့) ငါကား အသက်အရွယ် ကြီးလှပြီ။ အသင်တို့ထံတွင် ငါရှိနေခြင်းဖြင့် အသင်တို့အတို့ မည်သို့မျှအကျိုးမထူးပေ။ အချင်းတို့၊ မက္ကာမြို့တွင် ငါ၏ ဥစ္စာပစ္စည်း အများအပြားရှိသည်။ ထို ပစ္စည်းအားလုံးကို အသင်တို့ ➤➤

يَاَيُّهَا الَّذِيْنَ اٰمَنُوا ادْخُلُوْا فِى السِّلْمِ كَاۤفَّةً ۖ وَلَا تَتَّبِعُوْا خُطُوٰتِ الشَّيْطٰنِ ۗ اِنَّهٗ لَكُمْ عَدُوٌّ مُّبِيْنٌ ﴿٢٠٨﴾

၂၀၈။ အို-ယုံကြည်ခြင်းသဒ္ဓါတရားထားရှိကြသော မုအ်မင်န်အပေါင်းတို့၊ အသင်တို့သည် အစ္စလာမ် သာသနာအတွင်းသို့ လုံးလုံးလျားလျား (စိတ်ရော ကိုယ်ပါ) ဝင်ကြကုန်လော့၊ ၎င်းပြင် ရှိုင်တွာန်၏ နောက်သို့ ဖဝါးခြေထပ် မလိုက်ကြကုန်လင့်၊ ထိုရှိုင်တွာန်သည် မုချ သင်တို့အဘို့ ထင်ရှားသော ရန်သူပင် ဖြစ်ပေသည်။ [၁]

---

➤➤ ယူကြပါကုန်။ ငါ့အား ငါ့သာသနာနှင့်လွတ်လပ်စွာ နေနိုင်ခွင့် ပေးကြပါကုန်ဟု ပြောဆိုရာ မိစ္ဆာဒိဋ္ဌိတို့သည် ကျေနပ်နှစ်သိမ့်ကြပြီး ဆွဟုိုက်ဗ်အား ရန်မပြုဘဲ လွှတ်လိုက်ကြလေသည်။

ဆွဟုိုက်ဗ်သည် မဒီနာမြို့သို့ ရောက်ရှိလာသောအခါ အဗူဗက်ရ်ဆွစ်ဒ်ဒီက်နှင့် တွေ့လေ၏။ လမ်းတွင်တွေ့ကြုံခဲ့ရသော အဖြစ်အပျက်များကို ပြောပြရာ အဗူဗက်ရ်ဆွစ်ဒ်ဒီက်က အို-ဆွဟုိုက်ဗ်၊ အသင်၏ ရောင်းဝယ်မှုကား မြတ်လှဘိ၏ဟုဆိုလေသည်။ ဆွဟုိုက်ဗ်က အဘယ်ကြောင့်နည်းဟု ပြန်လည်မေးမြန်းရာ အဗူဗက်ရ်က အသင်နှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်ထံတော်မှ မုက္ခပါဌ်တော် ကျရောက်လာသည်ဟု ပြောပြ၍ ကုရ်အာန်ကျမ်း (၂:၂၀၇)ကို ရွတ်ဘတ်ပြလေသည်။

သို့ရာတွင် များစွာသော အဋ္ဌကထာရှင်များကမူ ဤမုက္ခပါဌ်တော်သည် အလ္လာဟ်အရှင်မြတ်၏လမ်းတော်တွင် ဂျိဟာဒ်ပြုတော်မူသော သာသနာ့ အာဇာနည်တိုင်းနှင့် ပတ်သက်၍ ထုတ်ပြန်ပို့ချတော်မူသော မုက္ခပါဌ်တော်ဖြစ်သည်ဟု ယူဆကြ၏။ ထို့နောက် သာဓကအဖြစ် ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော် (၉:၁၁၁)ကို တင်ပြကြလေသည်။ ( ကြည့်- အီဗ်နုကဆီရ်ကျမ်း)။ အများ အဋ္ဌကထာရှင်တို့ ယူဆချက်ကား ပိုမို သင့်မြတ်လှပေသည်။

**(၁) ထုတ်ပြန်ပို့ချတော်မူသောအကြောင်း**

ကုရ်အာန်ကျမ်းမြတ် (၂:၂၀၇)ကို ထုတ်ပြန်ပို့ချတော်မူခြင်း အကြောင်းကား ဤသို့တည်း။ ယဟူဒီဘာသာဝင်များဖြစ်ကြသော ကျမ်းတတ်ပုဂ္ဂိုလ်ကြီး အဗ်ဒုလ္လာဟ် အီဗ်နုစလာမ်နှင့်တကွ ထိုပုဂ္ဂိုလ်ကြီး၏ တပည့်နောက်လိုက်များသည် နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဟောပြော ဆုံးမသော တရားများကို နာခံကြပြီး အစ္စလာမ်သာသနာအတွင်းသို့ ဝင်လာခဲ့ကြ၏။ သို့အစ္စလာမ် သာသနာအတွင်းသို့ ဝင်လာကြရာ၌ မိမိတို့ ယခင်ကိုးကွယ်ခဲ့ကြသော ယဟူဒီဘာသာအယူဝါဒအတိုင်း အချို့ ကျင့်စဉ်ကျင့်ရပ် များကိုလည်း လက်မလွှတ်လိုကြပေ။

ယင်းသူတို့က တွေးဆကြသည်မှာ ယဟူဒီဘာသာတွင် စနေနေ့သည် နေ့ထူးနေ့မြတ်ဖြစ်သည်၊ အစ္စလာမ် သာသနာတွင် စနေနေ့ကို မမြတ်နိုးရဟူ၍ ပိတ်ပင်ထားသည်မရှိ။ ယဟူဒီဘာသာတွင် ကုလားအုဋ်၏ အသားကို ဟရာမ်မစားရဟု ပညတ်ထားသည်၊ အစ္စလာမ်သာသနာတွင် ကုလားအုဋ်၏အသားကို စားသုံး ပိုင်ခွင့် ရှိသည်ဟု ဆိုထား လင့်ကစား ဖရသ္တိ မစားမနေရဟူ၍ အမိန့် ထုတ်ပြန်ထားသည်မရှိ။ သို့ဖြစ်ရာ ငါတို့သည် စနေနေ့ကို ယခင်ကကဲ့သို့ပင် မြတ်နိုးကြအံ့။ ထို့အတူ အစ္စလာမ် တရားတော်နှင့်အညီ ကုလားအုဋ်၏အသား စားသုံးပိုင်ခွင့်ရှိသည်ဟု မိမိတို့စိတ်တွင် ယုံကြည်ယူဆကာ ယဟူဒီဘာသာအရ ➤➤

فَإِنْ زَلَلْتُمْ مِّنْ بَعْدِ مَا جَآءَتْكُمُ الْبَيِّنٰتُ فَاعْلَمُوْٓا أَنَّ اللّٰهَ عَزِيْزٌ حَكِيْمٌ ﴿٢٠٩﴾

၂၀၉။ ထို့ကြောင့် (အစ္စလာမ် သာသနာရေးရာများနှင့်စပ်လျဉ်း၍) ထင်ရှားသော သက်သေလက္ခဏာများ အသင်တို့ထံ ရောက်ရှိလာပြီးသည့် နောက်သော်မှပင် အသင်တို့သည် (ဖြောင့်မတ်မှန်ကန်သော လမ်းစဉ်မှ) ချွတ်ချော် တိမ်းပါးသွားခဲ့ကြသော် ဧကန်မုချ အလ္လာဟ် အရှင်မြတ်သည် တန်ခိုးအာနုဘော်နှင့် ပြည့်စုံတော်မူသောအရှင်၊ ကျိုးကြောင်း ဆင်ခြင်တုံ တရားနှင့် ပြည့်စုံတော် မူသောအရှင်၊ ဖြစ်တော် မူသည်ကို အသင်တို့သည် ကောင်းစွာ ယုံကြည် မှတ်သားထားကြကုန်လော့။

---

➤➤ ကုလားအုန်၏အသားကို လက်တွေ့မစားသုံးဘဲနေကြအံ့၊ ဤသို့အားဖြင့် ယဟူဒီဘာသာကိုလည်း လေးစားရာရောက်ကြပေမည်။ အစ္စလာမ်သာသနာကိုလည်း ဆန့်ကျင်ရာရောက်မည် မဟုတ်ပေ။

ဤသို့အားဖြင့် ယင်းသူတို့သည် အစ္စလာမ်သာသနာနှင့် ယဟူဒီဘာသာ၏ကျင့်စဉ်ကျင့်ရပ်များကို ဒွန်တွဲပြီး လိုက်နာကျင့်သုံးခဲ့ကြလေသည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်ထံတော်မှ ယင်းသူတို့နှင့်ပတ်သက်၍ အသင်တို့သည် အစ္စလာမ် သာသနာအတွင်းသို့ လုံးလုံးလျားလျား ဝင်ကြရမည့်အကြောင်းနှင့် ပတ်သက်၍ မုက္ခပါဌ်တော် ကျရောက်လာလေသည်။ ကြည့်-ထာနဝီ။

အစ္စလာမ်သည် အနည်းငယ်မျှသော အချို့ယုံကြည်ချက်၊ အချို့ကျင့်စဉ်နှင့် အချို့ဝတ်ပြုမှုများ၏ အမည်မဟုတ်၊ အစ္စလာမ်သည် ပစ္စုပ္ပန်၊ တမလွန်နှစ်ဘဝလုံးအတွက် ပြည့်ဝစုံလင်သော စည်းမျဉ်းကြီးတရပ် ဖြစ်ပေသည်။ အစ္စလာမ်သည် နှစ်ဘဝလုံးတွင် လူသားတို့ တွေ့ကြုံရမည့် ပြဿနာအရပ်ရပ်ကို တခုမကျန် ခရေစေ့တွင်းကျ ညွှန်ပြထားသည်။ အစ္စလာမ်တွင်ပါရှိသော အချက်အလက်အားလုံးတို့ သည်လည်း တခုနှင့်တခု ဆက်စပ်လျက်ရှိပေသည်။ တခုနှင့်တခု ခွဲခြားထား၍ကားမရပေ။

အထက်ပါ အာယတ်တော် (၂း၂၀၈)၏ အလိုသဘောမှာ အကြင်သူတဦးသည်တဆူတည်းသော အလ္လာဟ်အရှင်မြတ်ကို ယုံကြည်မြတ်နိုးငြားသော်လည်း၊ နိုင်ငံရေးတွင် (အစ္စလာမ်အပြင်) အခြားအယူဝါဒကို လိုက်နာသည်ရှိသော်၊ သို့တည်းမဟုတ် ယဉ်ကျေးမှုတွင် အခြားဘာသာကို နာယူသည်ရှိသော် ထိုသို့သောသူတဦးကို ကျွန်ုပ်တို့သည် ပြည့်စုံသောမွတ်စ်လင်မ်ဟူ၍ မခေါ်ဆိုနိုင်ပေ။

အစ္စလာမ်သာသနာသည် နေရေး၊ ထိုင်ရေး၊ စားရေး၊ သောက်ရေး၊ စီးပွားရေး၊ ပညာရေး၊ နိုင်ငံရေး၊ ပေါင်းသင်းဆက်ဆံရေး . . . စသည့် အရေးဟူဟူသမျှကို လိုလေသေးမရှိ ပြည့်ဝစုံလင်စွာ ဖော်ပြထားရှိပြီးဖြစ်ရကား အစ္စလာမ်သာသနာကို လက်ခံနာယူသူတဦးအတို့ အခြားဘာသာ၊ အခြားအယူဝါဒ၊ အခြားလမ်းစဉ်များကို လက်ခံရန် အလျင်းအကြောင်းမရှိပေ၊ ဤအကြောင်းကိုပင် ကုရ်အာန်ကျမ်းမြတ်(၂း၂၀၈)တွင် ဖွင့်ဟမိန့်ဆိုထားတော်မူသည်။

هَلْ يَنظُرُونَ إِلَّآ أَن يَأْتِيَهُمُ ٱللَّهُ فِى ظُلَلٍ مِّنَ ٱلْغَمَامِ وَٱلْمَلَٰٓئِكَةُ وَقُضِىَ ٱلْأَمْرُ ۚ وَإِلَى ٱللَّهِ تُرْجَعُ ٱلْأُمُورُ ٢١٠

**၂၁၀။** (ထိုသူများသည် သက်သေလက္ခဏာတော်များကို အထင်အရှား တွေ့မြင်ကြပါလျက်နှင့်ပင် တရားဒေသနာတော်များကိုသွေဖည်လျက် ရှိကြကုန်၏) ယင်းသူတို့သည် မိမိတို့ထံသို့ အလ္လာဟ်အရှင်မြတ်သည် အပါးတော် စေတမန်များ နှင့်တကွ (ယင်းသူတို့အား) (ကွပ်မျက်တော်မူရန်) *တိမ်တိုက်များမိုးလျက်ကြွရောက်လာပြီး၊*[၁] ကိစ္စပြီးဆုံးသွားခြင်းကိုသာ စောင့်မျှော်နေကြကုန်၏။ အမှန်သော်ကား အရေးကိစ္စ ဟူသမျှတို့သည် အလ္လာဟ်အရှင်မြတ်ထံတော်ပါးသို့ ပြန်လည် ရောက်ကြရမည်သာ ဖြစ်ကုန်သတည်း။

سَلْ بَنِىٓ إِسْرَٰٓءِيلَ كَمْ ءَاتَيْنَٰهُم مِّنْ ءَايَةٍۭ بَيِّنَةٍ ۗ وَمَن يُبَدِّلْ نِعْمَةَ ٱللَّهِ مِنۢ بَعْدِ مَا جَآءَتْهُ فَإِنَّ ٱللَّهَ شَدِيدُ ٱلْعِقَابِ ٢١١

**၂၁၁။** (အို-နဗီတမန်တော်) ငါအရှင်သည် ထို (အစ္စရာအီလီ) မျိုးနွယ်ဝင်တို့အား ထင်ရှားသောသက်သေလက္ခဏာများကို အဘယ်မျှပေးသနားတော်မူခဲ့သည်ကို အသင်သည် ယင်းအစ္စရာအီလီမျိုးနွယ်ဝင်တို့အား မေးမြန်းပါလေ။ အကြင်သူသည် ၎င်းထံသို့ အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်များ ရောက်ပြီးသည့်နောက် တနည်းတဖုံ ပြောင်းလွှဲခဲ့ပါမူ အလ္လာဟ်အရှင်မြတ်သည် အပြစ်ဒဏ်ကို ပြင်းထန်စွာစီရင်တော်မူသောအရှင် ဖြစ်တော်မူလေသတည်း။

---

(၁) အလ္လာဟ်အရှင်မြတ်သည် (အနာဒိကော) အစမရှိသော၊ (အနန္တကော) အဆုံးမရှိသော (အတုလော) ဂုဏ်ရည်တူမရှိသော (အစိန္တေယျော) မကြံစည်နိုင်သော အရှင်ဖြစ်တော်မူသည်။ ထိုအရှင်မြတ်သည် ကိုယ်ခန္ဓာ၊ နေရာဌာန စသည်တို့နှင့်လည်း လုံးဝကင်းစင်တော်မူသော အရှင်ဖြစ်တော်မူသည်။ ဤသည်ကား အများမွတ်စ်လင်မ်တို့၏ ယုံကြည်ချက်တည်း။

သို့ဖြစ်ရာ ကုရ်အာန်ကျမ်းမြတ်(၂:၂၁၀)တွင် တိမ်တိုက်များမိုးလျက် အလ္လာဟ်အရှင်မြတ် ကြွလာတော်မူရန် မျှော်လင့်နေကြကြောင်း ထုတ်ဖော်မိန့်ဆိုထားသည်မှာ "မုချ"မဟုတ်၊ "ဥပစာ" မျှသာဖြစ်ချေသည်။

ကုရ်အာန်ကျမ်းမြတ် (၂:၂၁၀)သည် ကုရ်အာန် (၁၆:၃၃)နှင့် စကား အထားအသိ အနည်းငယ်ကွဲပြားသော်လည်း သဘောအားဖြင့် အတော်ပင်တူညီပေသည်။ (၁၆:၃၃)တွင် ယင်းသူတို့ထံ အလ္လာဟ် အရှင်မြတ် တိမ်တိုက်တို့၏ အရိပ်များတွင် ကြွရောက်တော်မူခြင်း၏ အစား အသင့်အား ➢➢

زُيِّنَ لِلَّذِيْنَ كَفَرُوا الْحَيٰوةُ
الدُّنْيَا وَيَسْخَرُوْنَ مِنَ الَّذِيْنَ
اٰمَنُوْا وَالَّذِيْنَ اتَّقَوْا فَوْقَهُمْ
يَوْمَ الْقِيٰمَةِ ۗ وَاللّٰهُ يَرْزُقُ
مَنْ يَّشَآءُ بِغَيْرِ حِسَابٍ ﴿٢١٢﴾

၂၁၂။ (အမှန်စင်စစ်) မယုံမကြည်သွေဖည်ငြင်းဆန်ကြကုန်သော ကာဖိရ်တို့သည် ဤပစ္စုပ္ပန်ဘဝ၌ အသက်ထင်ရှားနေထိုင်ခြင်း(နှင့် လောကီစည်းစိမ်တို့)ကို ကောင်းမွန်သည်ဟု [၁] ထင်မြင်ယူဆပေရာ ယင်းသူတို့သည် ယုံကြည်သဒ္ဓါတရား ထားရှိကြကုန်သော မုအ်မင်န်တို့ကို ပြက်ရယ်ပြောင်လှောင်ကြလေသည်။ စင်စစ်သော်ကား (အလ္လာဟ်အရှင်မြတ်အား) ကြောက်ရွံ့ရိုသေ၍ ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်သော သူများသည် ရှင်ပြန်ထမည့်နေ့တွင် ထိုကာဖိရ်တို့ထက် သာလွန် မြင့်မြတ်ကြကုန်အံ့။ အမှန်သော်ကား အလ္လာဟ် အရှင်မြတ်သည် မိမိ အလိုတော်ရှိသောသူတို့ကို အတိုင်းမရှိ စားနပ်ရိက္ခာများကို ပေးသနားတော်မူလေသတည်း။

كَانَ النَّاسُ اُمَّةً وَّاحِدَةً ۗ
فَبَعَثَ اللّٰهُ النَّبِيّٖنَ
مُبَشِّرِيْنَ وَمُنْذِرِيْنَ ۖ وَاَنْزَلَ
مَعَهُمُ الْكِتٰبَ بِالْحَقِّ
لِيَحْكُمَ بَيْنَ النَّاسِ
فِيْمَا اخْتَلَفُوْا فِيْهِ ۗ وَمَا

၂၁၃။ *လူသားအားလုံးတို့သည် (မူလက) တသင်းတဖွဲ့တည်းဖြစ်ခဲ့ကြ၏။* [၂] အခွန့်ကာလရှည်ကြာလတ်သော် (စိတ်ဓာတ်များကွဲပြားပြီး အယူဝါဒကွဲပြားလာလေရာ) အလ္လာဟ်အရှင်မြတ်သည် (လူသားတို့ထံ) နဗီတမန်တော်များကို (အမိန့်တော်နာခံသူများအတွက်) ပီတိသောမနဿ ဝမ်းမြောက်ဘွယ်ရာ မင်္ဂလာသတင်း ပေးပို့သူများ အဖြစ်ဖြင့်၎င်း၊ (မနာခံသူများအား) သတိပေးနှိုးဆော်သော သူများအဖြစ်ဖြင့်၎င်း၊ စေလွှတ်တော်မူလေသည်။

➤➤ မွေးမြူတော်မူသော အရှင်၏ အမိန့်တော်ရောက်ခြင်းဟူ၍ ပါရှိပေသည်။

ဤသည်ကို အကြောင်းပြု၍ အချို့အဋ္ဌကထာရှင်များက (၂း၂၁၀)တွင် ယင်းသူတို့ထံ အလ္လာဟ် အရှင်မြတ် ကြွရောက်လာခြင်းဟူသော မုက္ခပါဌ်တော်ကို အလ္လာဟ်အရှင်မြတ်၏ စီရင်ချက် (ဝါ) ပြစ်ဒဏ်တော် သက်ရောက်ခြင်း ဟူ၍ အနက်ဖွင့်ကြလေသည်။

(၁) ဥစ္စာဓန ကုံလုံကြွယ်ဝခြင်းသည် အလ္လာဟ်အရှင်မြတ် ပြဋ္ဌာန်းထားတော်မူသည့်အတိုင်းသာ ဖြစ်ချေသည်။ ဥစ္စာဓန ကုံလုံကြွယ်ဝခြင်းသည် မြင့်မြတ်ခြင်း၊ အလ္လာဟ်အရှင်မြတ် နှစ်မြို့တော်မူခြင်း၏ နိမိတ် ➤➤

➤➤ လက္ခဏာတစ်ရပ်ဖြစ်သည်ဟူ၍ ယတိပြတ်မယူဆအပ်ပေ။

အရဗ်ကာဖိရ်တို့သည် နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဆင်းရဲနွမ်းပါးသော "ဆွဟာဗဟ်" သာဝကကြီးများအား အထင်အမြင်သေးခဲ့ကြ၏။ ကြည့်-ကုရ်အာန်(၁၁:၂၇)၊ (၂၆:၁၁၁)။

ဥစ္စာဓန ကုံလုံကြွယ်ဝသည့်အတွက် မိမိကိုယ်ကို အထင်ကြီး၍ သူဆင်းရဲတို့ကို အထင်အမြင်သေးခြင်းသည် မလိမ္မာမှုတစ်ရပ်သာဖြစ်ချေသည်။ ကြည့်-ထာနဝီ။

အလ္လာဟ်အရှင်မြတ် နှစ်မြို့တော်မူသောသူများကား ထိုအရှင်မြတ်အား ချစ်ကြောက်ရိုသေ မြတ်နိုး၍ ကိုယ်ကျင့်တရားကောင်းမြတ်သော "မွတ္တကီ" သူတော်စင်များသာတည်း။

② ကမ္ဘာလောကရှိ လူသားတို့သည် ကမ္ဘာဦးဘခင်အာဒမ်(အလိုင်ဟစ္စလာမ်)နှင့် မိခင်ကြီးဟောင်ဝါတို့မှ ဆင်းသက်ပေါက်ဖွားလာကြကုန်သော သားသမီးများသာဖြစ်ကြ၏။ လူသားအားလုံးတို့သည် တမိတဘတည်း၏ သားသမီးများဖြစ်ကြရကား တသင်းတဖွဲ့တည်းလည်း ဖြစ်ကြ၏။

လူသားတို့သည် ကာလအချိန်ကြာမြင့်စွာ ဘခင်ကြီး အာဒမ်(အလိုင်ဟစ္စလာမ်) ဟောကြားသော အစ္စလာမ် သာသနာကိုပင် လိုက်နာဆောင်ရွက်ခဲ့ကြ၏။ ကြည့် - အီဗ်နုဂျရီရ်ကဗီရ်။

ထိုနောက် လူသားတို့သည် တစ်နှစ်ထက်တစ်နှစ်၊ တစ်ခေတ်ထက်တစ်ခေတ် ဦးရေများပြားလာကာ ရေကြည်ရာ မြက်နုရာ ကမ္ဘာအရပ်ရပ်သို့ ပျံ့နှံ့သွားကြ၏။ မျိုးနွယ်အစားစား၊ လူမျိုးအဖုံဖုံ၊ တိုင်းပြည် အသီးသီး ဖြစ်ပေါ်လာကြ၏။ ပတ်ဝန်းကျင်များနှင့် ဥတုရာသီတို့၏ ကွဲပြားမှုကြောင့် အစားအသောက် အနေအထိုင်တို့သည် ကွဲပြားလာရာ စိတ်ဓာတ်များလည်း ကွဲပြားလာကြ၏။

ကမ္ဘာအိမ်ထောင်စုကြီးတွင် နေထိုင်ကြကုန်သော လူသားတို့သည် ကိုယ်ခန္ဓာ၏ အဆစ်အပိုင်းများနှင့် အလားသဏ္ဌာန်တူပေသည်။ လူသားတစ်ဦးသည် တစ်ဦးတစ်ယောက်တည်းနေ၍ မဖြစ်ချေ။ အဘယ့်ကြောင့်ဟူမူ လူသားတစ်ဦးသည် မိမိအတွက် လိုအပ်သောအရာများကို မိမိတစ်ဦးတည်း ဖန်တီးနိုင်သည်မဟုတ်။ လူသား အားလုံးတို့သည် တစ်ဦး၏အလိုကို တစ်ဦးဖြည့်ကာ အချင်းချင်း မှီခိုအားထား၍ နေကြရသည်သာတည်း။ သို့ဖြစ်ရာ လူသားတို့သည် တစ်ဦးနှင့်တစ်ဦး အတွေးအခေါ် အမြော်အမြင်၊ လုပ်ရည်ကိုင်ရည် စသည်တို့တွင် ခြားနားလျက်ရှိကြပေမည်။

လူသားအားလုံးတို့သည် မှန်ကန်သော သဘာဝပေါ်၌ တည်ရှိခဲ့ကြ၏။ ဤအကြောင်းနှင့်စပ်လျဉ်း၍ "ကလေးသူငယ်တိုင်းသည် မှန်ကန်သော သဘာဝအတိုင်းသာ ဖွားကြသည်။ ထို့နောက် ထိုကလေးသူငယ်၏ မိဘနှစ်ပါးတို့သည် ထိုသားငယ်အားယဟူဒီ ဘာသာဝင်သော်လည်းကောင်း၊ နဆွ်ရာနီဘာသာဝင်သော် လည်းကောင်း၊ မဂျူးစီဘာသာဝင်သော် လည်းကောင်း ဖြစ်စေကြသည်" ဟူ၍ နဗီတမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် လူ့သဘာဝဖြစ်စဉ်ကို ဖော်ပြမိန့်ဆိုခဲ့၏။ ကြည့်-(ဗုခါရီ)။

လူသားအားလုံးတို့သည် မိဘသားချင်းတို့၏ဖန်တီးမှုကိုလည်း ခံကြရ၏။ ရှိင်တွာန်၏ ဖြားယောင်း သွေးဆောင်မှု အမျိုးမျိုးကိုလည်းခံကြရ၏။

ထို့အတွက်ကြောင့်ပင် လူသားတို့သည် တအူတုံဆင်း တမိဝမ်းတွင်းမှ ပေါက်ဖွားလာကြသော ညီရင်းအစ်ကို မောင်ရင်းနှမများဖြစ်ကြလင့်ကစား အယူအဆကွဲကြလေသည်၊ လောဘ၊ ဒေါသ၊ မောဟ၊ မာနတည်းဟူသော အယုတ်တရားများ၌ နစ်မွန်း၍ အချင်းချင်း အငြင်းပွားကြလေသည်။ စိတ်နှလုံးများ မာကျောလာကြ၏။ ကြည့်-ကုရ်အာန် (၅၇:၁၆)။

اخْتَلَفَ فِيهِ إِلَّا الَّذِينَ أُوتُوهُ مِنْ بَعْدِ مَا جَاءَتْهُمُ الْبَيِّنَاتُ بَغْيًا بَيْنَهُمْ ۖ فَهَدَى اللَّهُ الَّذِينَ آمَنُوا لِمَا اخْتَلَفُوا فِيهِ مِنَ الْحَقِّ بِإِذْنِهِ ۗ وَاللَّهُ يَهْدِي مَنْ يَشَاءُ إِلَىٰ صِرَاطٍ مُسْتَقِيمٍ ﴿٢١٣﴾

ထို့ပြင်တ၀ လူသားတို့ အချင်းချင်း ကွဲပြားလျက်ရှိသော ပြဿနာများရပ်ကို စီရင် ဆုံးဖြတ်ပေးတော်မူအံ့သောငှာ အလ္လာဟ် အရှင်မြတ်သည် ထို နဗီတမန်တော် များနှင့်အတူ မှန်ကန်သော ကျမ်းဂန် အသီးသီး တို့ကိုလည်း ထုတ်ပြန် ချမှတ်ပေးအပ်တော်မူလေသည်။ ထိုကျမ်းဂန်နှင့် စပ်လျဉ်း၍ကား (မည်သူတစ်ဦးတစ်ယောက်မျှ) ကွဲပြားသည် မရှိချေ။ ထိုကျမ်းဂန်ကို ရရှိသောသူများသာလျှင် မိမိတို့ထံ ထင်ရှားသော အမှတ်အသား လက္ခဏာတော်များရောက်ရှိလာပြီးသည့်နောက်တွင် မိမိတို့ အချင်းချင်း မလိုမုန်းထား ထောင်လွှားခြင်းကြောင့် ထိုကျမ်းဂန်နှင့်စပ်လျဉ်း၍ ကွဲပြားလာကြလေ၏။ ထိုအခါ (နောက်ဆုံး၌) အလ္လာဟ်အရှင်မြတ်သည် မိမိအလိုတော်ဖြင့် လူသားတို့ ကွဲပြားလျက်ရှိသော ပြဿနာများနှင့် စပ်လျဉ်း၍ ယုံကြည်ခြင်းသဒ္ဓါတရားထားရှိကုန်သော မုအ်မင်တို့အား တရားမှန်ကို ညွှန်ကြား ပြသတော်မူလေသည်။ ဧကန်အမှန် အလ္လာဟ် အရှင်မြတ်သည် မိမိနှစ်မြို့တော်မူသော သူတို့ကို ဖြောင့်မတ်မှန်ကန်သော တရားလမ်းသို့ ညွှန်ကြားပြသ ပို့ဆောင်တော်မူလေသတည်း။

أَمْ حَسِبْتُمْ أَنْ تَدْخُلُوا الْجَنَّةَ وَلَمَّا يَأْتِكُمْ مَثَلُ الَّذِينَ خَلَوْا مِنْ قَبْلِكُمْ ۖ مَسَّتْهُمُ

၂၁၄။ (အို-မုအ်မင်နိအပေါင်းတို့) အသင်တို့သည် "ဂျန္နတ်" အမတသုခဘုံသို့ (လွယ်လင့်တကူ) ဝင်ကြရလိမ့်မည်ဟု မှတ်ထင်ကြလေသလော။ (ယခုမူ) အသင်တို့အလျင် လွန်လေပြီးသော သူမွန်သူမြတ်တို့ထံသို့ သက်ရောက်ခဲ့ဘူးသော အံ့ဩဘွယ်ရာ အဖြစ်အပျက်သည် အသင်တို့ထံသို့ သက်ရောက် သည် မရှိသေးချေ။

الْبَأْسَآءُ وَالضَّرَّآءُ وَزُلْزِلُوا حَتّٰى يَقُولَ الرَّسُولُ وَالَّذِينَ اٰمَنُوا مَعَهٗ مَتٰى نَصْرُ اللّٰهِ ۗ اَلَآ اِنَّ نَصْرَ اللّٰهِ قَرِيبٌ ﴿٢١٤﴾

ထိုသူမွန်သူမြတ်တို့ အပေါ်ဝယ် ဒုက္ခအမျိုးမျိုး၊ ဘေးဥပဒ် အဖုံဖုံတို့သည် ဆိုက်ရောက်ခဲ့ပေသည်။ (ဆင်းရဲဒုက္ခ အမျိုးမျိုးတို့ကြောင့်) ထိုသူမွန်သူမြတ်တို့သည် တုန်လှုပ်ချောက်ချား ခဲ့ကြရပေသည်။ (နောက်ဆုံးတွင်) နဗီတမန်တော်နှင့် နောက်ပါ တပည့်သားများဖြစ်ကြကုန်သော "မုအ်မင်န်" တို့သည်ပင် (ထိတ်ထိတ်လန့်လန့်ဖြစ်ကာ) အလ္လာဟ် အရှင်မြတ်၏ ကူညီစောင်မတော် မူခြင်းသည် မည်သည့်အခါ၌ ရောက်ရှိပါအံ့နည်း ဟု ပြောဆိုကြလေသည်။ (သို့ဒုက္ခအမျိုးမျိုးနှင့် ရင်ဆိုင်ကြရသောအခါ၌ အလ္လာဟ်အရှင်မြတ်က) သတိပြုကြကုန်။ ဧကန်အမှန် အလ္လာဟ် အရှင်မြတ်၏ စောင်မတော်မူခြင်းသည် နီးကပ်လျက်ရှိချေပြီ (ဟု မိန့်ကြားတော်မူလေသတည်း။) ၁

---

(၁) <u>ထုတ်ပြန်ပို့ချခြင်း။</u>

ဟစ်ဂျ်ရီသက္ကရာဇ် (၅)ခုနှစ်၊ "ရှုကအ်ဒဟ်"လတွင် ယဟူဒီများသည် အရဗ်လူမျိုးစု အသီးသီးတို့နှင့် မဟာမိတ်ဖွဲ့ပြီး စစ်သည်တော် ဗိုလ်ခြေ နှစ်သောင်းလေးထောင်(၂၄၀၀၀)ကျော်တို့ဖြင့် မဒီနာမြို့ကို ဝိုင်းဝန်းကာ နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့်တကွ မွတ်စ်လင်မ် တစ်မျိုးသားလုံးတို့အား လုံးဝ ချေမှုန်းပစ်ရန် စစ်ပွဲဆင်နွှဲခဲ့ကြလေသည်။ ရန်သူစစ်သည်တော်များသည် မဒီနာမြို့ကို တစ်လနီးပါး ဝိုင်းဝန်း ထားခဲ့ကြ၏။ မွတ်စ်လင်မ်တို့သည် ထိုအချိန်တွင် အင်အား နည်းပါးလျက် ရှိကြ၏။ သာဝကကြီး စလ်မာန်ဖာရစီ၏ အကြံပေးချက်အရ နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် မဒီနာမြို့၏ ပတ်ဝန်းကျင်၌ ကျုံးတူး၍ မွတ်စ်လင်မ်စစ်သည်တော် သုံးထောင်(၃၀၀၀)တို့ဖြင့် ရန်သူတို့အား ခုခံကာကွယ်တော်မူခဲ့၏။

မွတ်စ်လင်မ်တို့သည် စစ်အင်အားနည်းခြင်း၊ စီးပွားရေးကျပ်တည်းခြင်း၊ နေ့ဆက်အစာငတ်မွတ်ခြင်း၊ ညဉ့်ဆက်အအိပ်ပျက်ခြင်း၊ ဥတုရာသီဆိုးရွားခြင်း၊ တစ်လနီးပါး ရန်သူတို့ကဝိုင်းဝန်းထားခြင်းကို ခံရခြင်း၊ ရန်သူတို့၏ စစ်အင်အား ကြီးမားလှခြင်းတို့ကြောင့် မကြုံစဘူးသော ဒုက္ခတို့နှင့် ရင်ဆိုင်ခဲ့ကြရ၏။ တုန်လှုပ်ချောက်ချားခဲ့ကြရ၏။ သို့ရာတွင် နောက်ဆုံး၌ အလ္လာဟ်အရှင်မြတ်၏ စောင်မတော်မူခြင်းဖြင့် ရန်သူတို့သည် ကစဉ့်ကလျားဖြစ်သွားကြပြီးလျှင် မွတ်စ်လင်မ်များသည်ပင် စစ်ရေးသာခဲ့ကြလေသည်။

ယဟူဒီများနှင့် အရဗ်လူမျိုးစုအားလုံး မဟာမိတ်ဖွဲ့ပြီး စစ်ပွဲဆင်နွှဲသည်ကို အကြောင်းပြု၍ ဤစစ်ပွဲကို "ဃတ်ဇ်ဝတုလ်အဟ်ဇာဗ်" မဟာမိတ်တို့၏ စစ်ပွဲဟူ၍၎င်း၊ မွတ်စ်လင်မ်တို့သည် ကျုံးတူး၍ ခုခံကာကွယ်ခဲ့ကြသည်ကို အကြောင်းပြု၍ "ဃတ်ဇ်ဝတုလ်ခန်ဒက်" ကျုံးစစ်ပွဲ ဟူ၍၎င်း၊ ခေါ်ဝေါ်ကြသည်။ ➤➤

يَسْـَٔلُوْنَكَ مَاذَا يُنْفِقُوْنَ ۗ
قُلْ مَآ اَنْفَقْتُمْ مِّنْ خَيْرٍ
فَلِلْوَالِدَيْنِ وَالْاَقْرَبِيْنَ
وَالْيَتٰمٰى وَالْمَسٰكِيْنِ وَابْنِ
السَّبِيْلِ ۗ وَمَا تَفْعَلُوْا مِنْ
خَيْرٍ فَاِنَّ اللّٰهَ بِهٖ
عَلِيْمٌ ﴿٢١٥﴾

**၂၁၅။** (အို-နဗီတမန်တော်) အချို့သောသူများသည် (ကုသိုလ်အကျိုးငှာ) မည်သည့် အရာဝတ္ထုကို (မည်သည့်နေရာ၌) လှူဒါန်းပေးကမ်း သုံးစွဲကြရပါမည်နည်းဟု အသင့်ကိုမေးမြန်းကြရာ အသင်သည် (ယင်းသူတို့အား) "*အသင်တို့သည် (မိမိတို့နှစ်သက်ရာကို) ပေးကမ်း လှူဒါန်းနိုင်ကြပေသည်။* [၁] သို့ရာတွင် မိဘနှစ်ပါးတို့အတို့ငှာ၊ ဆွေမျိုးနီးစပ်သောသူတို့အတို့ငှာ၊ ဘသက်ဆိုးတို့အတို့ငှာ၊ သူဆင်းရဲတို့အတို့ငှာ၊ ခရီးသည်အာဂန္တု(များ)အတို့ငှာ (သုံးစွဲလှူဒါန်းခြင်းသည် ပိုမိုသင့်မြတ်လှပေသည်)၊ အမှန်စင်စစ် အသင်တို့သည် မည်သည့်ကောင်းမှုကုသိုလ်မျိုးကိုမဆို ပြုလုပ်ကြပါမူ ဧကန်မုချ အလ္လာဟ်အရှင်မြတ်သည် ထိုပြုလုပ်သမျှသော ကောင်းမှုကုသိုလ်တို့ကို ကောင်းစွာ သိရှိတော်မူသော အရှင်ဖြစ်တော်မူသည်" ဟု ဖြေကြားပါလေ။

كُتِبَ عَلَيْكُمُ الْقِتَالُ وَهُوَ كُرْهٌ
لَّكُمْ ۚ وَعَسٰٓى اَنْ تَكْرَهُوْا شَيْـًٔا
وَّهُوَ خَيْرٌ لَّكُمْ ۚ وَعَسٰٓى اَنْ

**၂၁၆။** (အို-"မုအ်မင်န်" အပေါင်းတို့) အသင်တို့အပေါ်ဝယ် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းသည် "*ဖရည်*" *ပြဋ္ဌာန်းပြီး ဖြစ်ချေပြီ။* [၂] အမှန်စင်စစ် ထိုစစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းသည် အသင်တို့အတို့ (သဘာဝအလျောက်) ရွံရှာစက်ဆုပ်(ဝန်လေး)ဘွယ်ရာပင် ဖြစ်ချေသည်။

➤➤ ဤစစ်ပွဲအကြောင်းကို ကုရ်အာန်ကျမ်းမြတ် (၃၃း၉-၂၀)တွင် တွေ့ရှိနိုင်သည်။ အကျယ်ကို စီရတုန္နဗီ၊ ပဥ္စမတွဲ။ စာမျက်နှာ (၃၈၀-၄၂၄)တွင် ရှုပါကုန်။ ကုရ်အာန်ကျမ်းလာ (၂း၂၁၄)သည် ဤစစ်ပွဲတွင် မွတ်စ်လင်မ်တို့ ဒုက္ခအမျိုးမျိုး ခံစားခဲ့ရသည့် အကြောင်းနှင့်စပ်လျဉ်း၍ ထုတ်ပြန်ချမှတ်တော်မူသော မုက္ခပါဌ်တော်ဖြစ်သည်ဟု အများ အဋ္ဌကထာရှင်များ ယူဆကြလေသည်။ ကြည့်-အီဗ်နုဂျ်ရီရ်ကျမ်း၊ အဒ်ဒုရ်ရုလ်မန်ဆူရ်ကျမ်း။

(၁) ကုရ်အာန်ကျမ်းလာ ဤမုက္ခပါဌ်တော် (၂း၂၁၅) သည် စေတနာအလျောက် ပေးကမ်းလှူဒါန်းသော အလှူဒါနများနှင့်သာ သက်ဆိုင်ပေသည်။ "ဖရည်" မပေးမနေရဟူ၍ ပြဋ္ဌာန်းသတ်မှတ်ထားသော "ဇကာတ်"သည် ဤမုက္ခပါဌ်တော်နှင့် မသက်ဆိုင်၊ သီးခြားအမိန့်တော်တစ်ရပ်ဖြစ်ပေသည်။ ကြည့်-အဒ်ဒုရ် ရုလ်မန်ဆူရ်ကျမ်း။ အီဗ်နုကဆီရ်ကျမ်း၊ မဒါရိက်ကျမ်း။

تُحِبُّوا شَيْـًٔا وَّهُوَ شَرٌّ لَّكُمْ ۗ وَاللّٰهُ يَعْلَمُ وَاَنْتُمْ لَا تَعْلَمُوْنَ ﴿٢١٦﴾

သို့ရာတွင် အသင်တို့သည် တစ်စုံတစ်ရာကို ရွံရှာစက်ဆုပ်သော်လည်း စင်စစ်မှာ ထိုအရာသည် အသင်တို့အတွက် အကောင်းဖြစ်တန်ရာ၏။ [၁] ထို့နည်းတူပင် အသင်တို့သည် တစ်စုံတစ်ရာကို နှစ်သက်သော်လည်း စင်စစ်မှာ ထိုအရာသည် အသင်တို့အတွက် အဆိုးဖြစ်တန်ရာသည်။ အမှန်စင်စစ် အလ္လာဟ် အရှင်မြတ်သည်သာလျှင် (အကောင်းနှင့်အဆိုးကို တပ်အပ်သေချာစွာ)သိရှိတော်မူ၏။ အသင်တို့မူကား (တစ်စုံတစ်ရာကိုမျှ တိကျသေချာစွာ) သိနားလည်ကြသည် မဟုတ်ကြချေ။ [၂]

---

(၂) အရပ် "ကာဖိရ်" တို့၏ညှဉ်းပမ်းနှိပ်စက်မှုအမျိုးမျိုးတို့ကို မခံမရပ်နိုင်ကြသဖြင့် နဗီတမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)နှင့်တကွ မြောက်မြားစွာသော မွတ်စ်လင်မ်တို့သည် မက္ကာမြို့ကို စွန့်လွှတ်၍ မဒီနာမြို့သို့ ရွှေ့ပြောင်းတည်းခိုနေကြ၏။ ထိုအချိန်တွင် မွတ်စ်လင်မ်တို့သည် နေရေး၊ ထိုင်ရေး၊ စားရေး၊ သောက်ရေး အစရှိသည့် လူမှုရေးရာကိစ္စအဝဝတွင် ချို့တဲ့ကြ၏။ အင်အားချည့်နဲ့ကြ၏။ စိတ်ဓာတ်များပင် ပျက်ပြားလျက်ရှိကြ၏။ ထိုကဲ့သို့ ကစဉ့်ကလျားဖြစ်နေသော အချိန်အခါမျိုးတွင် အင်အားကြီးမားလှသော ရန်သူတို့နှင့် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန် အမိန့်တော် ကျရောက်လာပေရာ မွတ်စ်လင်မ်တို့အတွက် လူ့သဘာဝအလျောက် မုချဝန်လေးပေမည်။ ဤသည် ထိုထိုသော မွတ်စ်လင်မ် အာဇာနည်တို့၏ "အီမာန်" ယုံကြည်ခြင်း သဒ္ဓါတရားနှင့် ယင်းသူတို့၏ ဂုဏ်ပုဒ်ကို စိုးစဉ်းမျှ ထိခိုက်သည်မဟုတ်ပေ။

(၁) "အသင်တို့ စက်ဆုပ်သောအရာသည် အသင်တို့အတွက် အကောင်းဖြစ်တန်ရာ၏" ဟူသော မုက္ခပါဌ်တော်၏ အလိုကား အသင်တို့သည် မိမိတို့၏ ထင်မြင်ယူဆချက်အရ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းကို မလိုလားကြသော်လည်း ရန်သူတို့အား ခုခံတိုက်ခိုက်၍ အောင်နိုင်သောအခါ ထိုသို့ ခုခံကာကွယ် တိုက်ခိုက်ခြင်းသည်ပင် သင်တို့အတွက် အကောင်းဖြစ်လိမ့်မည်ဟူလို။

"အသင်တို့လိုလားသောအရာသည် အသင်တို့အတွက် အဆိုးဖြစ်တန်ရာ၏" ဟူသော မုက္ခပါဌ်တော်၏ အလိုကား အသင်တို့သည် မိမိတို့၏ထင်မြင်ယူဆချက်အရ စစ်မတိုက်ခိုက်ခြင်းကို နှစ်သက်၍ အေးချမ်းစွာ နေလိုကြသော်လည်း ရန်သူမိစ္ဆာဒိဋ္ဌိတို့သည် အသင်တို့အား လွှမ်းမိုးပြီးလျှင် ညှဉ်းပန်းနှိပ်စက်ကြမည်ဖြစ်ရာ ထိုသို့စစ်မတိုက်ဘဲ အေးချမ်းစွာနေလိုခြင်းသည်ပင် အသင်တို့အတွက် အဆိုးဖြစ်လိမ့်မည်ဟူလို။

(၂) အလ္လာဟ်အရှင်မြတ်သည် သဗ္ဗညုတဉာဏ်တော်ရှင်ဖြစ်တော်မူပေရာ ထိုအရှင်မြတ် ထုတ်ပြန် ချမှတ်တော်မူသော အမိန့်ပညတ် အရပ်ရပ်တို့သည် မြောက်မြားစွာသော ကောင်းကျိုးချမ်းသာ မင်္ဂလာအဖြာဖြာတို့ကို ခြုံလျက်ရှိပေသည်။ လူသားတို့၏အသိဉာဏ်၊ အတွေးအခေါ် အမြော်အမြင်တို့မှာမူ အလွန်မှုပင် နည်းပါးတိုတောင်း ကျဉ်းမြောင်းလှရကား လူသားတို့သည်အဘယ်တစ်စုံတစ်ခုကိုမျှ တိကျစွာမသိနိုင်ကြပေ၊ သို့ဖြစ်ရာ လူသားတို့သည် အရာရာတွင် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်များကို ဦးလည်မသုံ လိုက်နာဆောင်ရွက်ခြင်းဖြင့်သာလျှင် ဘေးရန်ကင်း၍ ငြိမ်းချမ်းခြင်းသို့ ရောက်ရှိနိုင်ကြမည်သာတည်း။ ကြည့်-မာရိဖိဒီ။

يَسْـَٔلُوْنَكَ عَنِ الشَّهْرِ الْحَرَامِ قِتَالٍ فِيْهِ ۗ قُلْ قِتَالٌ فِيْهِ كَبِيْرٌ ۗ وَصَدٌّ عَنْ سَبِيْلِ اللّٰهِ وَكُفْرٌۢ بِهٖ وَالْمَسْجِدِ الْحَرَامِ ۗ

၂၁၇။ (အို-နဗီတမန်တော်) ထိုသူတို့သည် ရိုသေလေးစားအပ်သော လမြတ်၌ စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ခြင်းနှင့် စပ်လျဉ်း၍ အသင့်ကို (လာရောက်) မေးမြန်းကြရာ အသင်သည် (ယင်းသူတို့အား၊ ဟယ်-အချင်းတို့) "ထိုလမြတ်၌ (သိလျက်နှင့်ပင်) စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းသည် ကြီးလေးသော အပြစ်ပင်ဖြစ်ချေသည်။ ၁

(၁) **ထုတ်ပြန်ပို့ချတော်မူခြင်း။**

(ရိုသေမြတ်နိုးအပ်သောလများမှာ မုဟာရ်ရမ်၊ ရဂျဗ်၊ ဇုလ်ကအ်ဒဟ်၊ ဇုလ်ဟိဂ်ျဂျဟ်လများဖြစ်ကြသည်)။ ဗဒ်ရ်စစ်ပွဲမဖြစ်မီ ၁၇-လ၊ ဟစ်ဂျ်ရီ သက္ကရာဇ် ၂-ခုနှစ်၊ ဂျုမာဒလ်အုခ်ရာလ၏ နောက်ပိုင်းတွင် နဗီတမန်တော်မုဟမ္မဒ်(ဆွာလ္လလ္လဟု အလိုင်ဟိ ဝစလ္လမ်)သည် ကုရိုက်ရှ်တို့၏အခြေအနေများကို ထောက်လှမ်းရန်အလို့ငှာ အဗ်ဒုလ္လာဟ် အီဗ်နုဂျဟ်ရှ်နှင့်တကွ "မုဟာဂျိရီန်" သာဝကကြီး ၈-ပါးတို့အား စေလွှတ်တော်မူခဲ့၏။ ထိုသာဝကကြီးများသည် "နခ်လဟ်" အမည်ရှိသော ဌာနသို့ရောက်ကြသောအခါ ကုရိုက်ရှ်မျိုးနွယ်ဝင် အချို့ကုန်သည်များကို မြင်ကြလေသည်။ သို့မြင်ကြသည့်အခါ သာဝကကြီးများသည် ထိုကုရိုက်ရှ်ကုန်သည်များ အရေးနှင့်စပ်လျဉ်း၍ ဆွေးနွေးကြ၏။ ထိုနေ့သည် ဂျုမာဒလ်အုခ်ရာလ၏ နောက်ဆုံးနေ့ပင်ဖြစ်၏။ အကယ်၍ ငါတို့သည် ထိုကုန်သည်များကို လျစ်လျူပြုကြအံ့၊ ထိုသူများသည် ရိုသေမြတ်နိုးအပ်သောလများအတွင်းသို့ ရောက်သွားကြအံ့၊ ထိုအချိန်အခါတွင် ထိုသူတို့သည် အကာအကွယ်ရသွားကြပေမည်။ အကယ်၍ ငါတို့သည် ထိုသူများကိုတိုက်ခိုက်ကြအံ့၊ ရိုသေမြတ်နိုးအပ်သော လများတွင် တိုက်ခိုက်ရာရောက်ကြအံ့၊ သို့တွေးဆဆင်ခြင်လျက် သာဝကကြီးများသည် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန် သင့်တော်သည်၊ မသင့်တော်သည်ကို စဉ်းစားရာတွင် စနောင့်စနင်း ဖြစ်နေခဲ့ကြ၏။ နောက်ဆုံးတွင် သာဝကကြီးများသည် တိုက်ခိုက်ရန်ဆုံးဖြတ်ကြပြီး ထို"ကုရိုက်ရှ်"ကုန်သည်တို့အား တိုက်ခိုက်ကြလေသည်။ ထိုစစ်ပွဲတွင် ကုရိုက်ရှ်ကုန်သည်တို့ဘက်မှ အမ်ရ်အီဗ်နုလ်ဟသ္သရမီ ကျဆုံး၍ အခြား ၂-ဦး လက်ရဖမ်းဆီးခြင်း ခံကြရ၏။

ယင်းကိစ္စ ပြီးစီးသည့်အခါ အဗ်ဒုလ္လာဟ် အီဗ်နုဂျဟ်ရှ်၏ အဖွဲ့သားများသည် စစ်သုံ့ပန်း ပစ္စည်းများနှင့်တကွ ဘမ်းဆီးထားသော အကျဉ်းသား ၂-ယောက်တို့ကို ယူဆောင်၍ နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)ထံသို့ လာရောက်ကြလေ၏။ ထိုအခါ နဗီတမန်တော်က "ငါသည် အသင်တို့ကို ရိုသေမြတ်နိုးအပ်သော လများတွင် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန် အမိန့်ပေးခဲ့သည်မဟုတ်" ဟု မိန့်ဆိုလေသည်။ ထို့နောက် နဗီတမန်တော်သည် ဘမ်းဆီး ယူဆောင်လာသော အကျဉ်းသား ၂-ယောက်နှင့် စစ်သုံ့ပန်းပစ္စည်းများအနက် အနည်းငယ်မျှ လက်ခံခြင်းကိုပင် ငြင်းပယ်တော်မူလေ၏။ ထိုအခါ အဗ်ဒုလ္လာဟ် အီဗ်နုဂျဟ်ရှ်နှင့် အဖွဲ့သားတို့သည် ရှက်ကြောက်ကြ၏။ ယူကြုံးမရ ဖြစ်ကြ၏။ ငါတို့သည် ပျက်စီးကြရတော့အံ့ဟု ထင်မှတ်ကြ၏။

အဗ်ဒုလ္လာဟ် အီဗ်နုဂျဟ်ရှ်နှင့် အဖွဲ့သားတို့အား မွတ်စ်လင်မ်များကလည်း "အသင်တို့သည် ပြုလုပ်ရန်အမိန့်မရှိသည်များကို ပြုလုပ်ကြသည်။ ရိုသေမြတ်နိုးအပ်သောလများတွင် စစ်မက်ပြိုင်ဆိုင် ➤➤

وَإِخْرَاجُ أَهْلِهِ مِنْهُ أَكْبَرُ عِنْدَ اللَّهِ ۚ وَالْفِتْنَةُ أَكْبَرُ مِنَ الْقَتْلِ ۗ وَلَا يَزَالُونَ يُقَاتِلُونَكُمْ حَتَّىٰ يَرُدُّوكُمْ عَنْ دِينِكُمْ إِنِ اسْتَطَاعُوا ۚ وَمَنْ يَرْتَدِدْ مِنْكُمْ عَنْ دِينِهِ فَيَمُتْ وَهُوَ كَافِرٌ فَأُولَٰئِكَ حَبِطَتْ أَعْمَالُهُمْ فِي الدُّنْيَا وَالْآخِرَةِ ۖ

သို့ရာတွင် အလ္လာဟ်အရှင်မြတ်၏ (သာသနာ့) လမ်းတော်မှ ပိတ်ပင်တားဆီးခြင်းသည်ငှင်း၊ ထို အရှင်မြတ်အား မယုံမကြည် သွေဖည်ငြင်းပယ်ခြင်းသည်ငှင်း၊ ရိုသေလေးစားအပ်သော (အလ္လာဟ်အရှင်မြတ်၏) *ဗလီကျောင်းတော်မှ (ဖူးမျှော်ရန်လာသော သူများကို) တားဆီးပိတ်ပင်ခြင်းသည်ငှင်း၊* [၁] ထိုဗလီကျောင်းတော်၌ မှီတင်းနေထိုင်ကြသော သူတို့ကို ယင်းဗလီကျောင်းတော်မှ နှင်ထုတ်ခြင်းသည်ငှင်း၊ အလ္လာဟ်အရှင်မြတ်၏ အထံတော်၌ သာလွန်၍ ကြီးလေးသောအပြစ်ပင် ဖြစ်ချေသည်။ ထိုနည်းတူစွာ (သာသနာရေး၌) ညှဉ်းပန်းနှိပ်စက် ကလူပြုခြင်းသည်လည်း (ထို)သတ်ဖြတ်ခြင်းထက်ပင် သာလွန်၍ ကြီးလေးသော အပြစ်ကြီးတစ်ရပ်ဖြစ်ပေသည်" ဟု အသင်ဖြေကြားပါလေ။

➤➤ တိုက်ခိုက်ကြသည်၊ ထိုလများတွင် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန် အသင်တို့အား အမိန့်တစ်စုံတစ်ရာ ပေးထားသည်သည်း မရှိ" ဟု ပြစ်တင်ပြောဆိုကြလေ၏။ ကုရိုက်ရှ် မျိုးနွယ်တို့ကလည်း "မုဟမ္မဒ်နှင့် နောက်လိုက်တပည့်သားတို့သည် ရိုသေမြတ်နိုးအပ်သောလများတွင် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းကို ခွင့်ပြု၍ သွေးထွက်သံယိုပြုကြပြီး၊ ထိုလများတွင် ပစ္စည်းများကို သိမ်းယူကြပြီ၊ လူသားတို့ကို အကျဉ်းသားများအဖြစ် ဘမ်းဆီးကြပြီ" ဟု ကဲ့ရဲ့ ပြစ်တင်ကြလေသည်။ ထိုအခါ မက္ကာမြို့ရှိ မွတ်စ်လင်မ်များက "အဗ်ဒုလ္လာဟ် အီဗ်နုဂျဟ်ရှ်နှင့် အဖွဲ့သားတို့သည် ရိုသေမြတ်နိုးအပ်သော လများတွင် စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ကြသည်မဟုတ်၊ ဂျူမာဒလ်အုခ်ရာလ၌ တိုက်ခိုက်ခြင်းသာဖြစ်သည်" ဟု ပြန်လည်ချေပ ပြောဆိုကြလေသည်။ ထိုစစ်ပွဲအကြောင်းနှင့် စပ်လျဉ်း၍ သို့လော–သို့လော အမျိုးမျိုးဝေဘန်ပြောဆိုနေကြသည့်အခါ အလ္လာဟ်အရှင်မြတ် ထံတော်မှ ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော် (၂း၂၁၇) သည် ကျရောက်လာလေသည်။ ကြည့်–အီဗ်နုဂျရီရ်။ အလ်မနာရ်။

(၁) မက္ကာမြို့တော်ရှိ "အလ်မတ်စ်ဂျိဒုလ်ဟာရာမ်" သည် အထူးရိုသေ မြတ်နိုးအပ်သော အလ္လာဟ်အရှင်မြတ်၏ ကျောင်းတော်ဖြစ်သည်၊ အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ကြကုန်သော မွတ်စ်လင်မ်တို့သည် အလ္လာဟ် အရှင်မြတ်၏ ကျောင်းတော်တွင် အချိန်မရွေး လွတ်လပ်စွာ သွားလာခွင့်ကို ရလိုကြပေမည်၊ သာသနာရေး လွတ်လပ်မှုကို ဖန်တီးပေးခြင်းသည် အစ္စလာမ်အစိုးရ၏ အဓိက တာဝန်တစ်ရပ်ပင်ဖြစ်၏။ မည်သည့်သာသနာဝင် မဆို မိမိတို့ ယုံကြည်ကိုးကွယ်သော သာသနာကို လွတ်လပ်စွာ လိုက်နာကျင့်သုံးလိုကြ၏။ "သာသနာထိ မခံချိအောင်နာ" ဆိုသကဲ့သို့ မည်သည့်ဘာသာဝင်မျှ ဘာသာရေး ချုပ်ချယ်မှုကို အလျင်းမလိုလားကြပေ။ သို့ပင်တစေ အရဗ်မိစ္ဆာဒိဋ္ဌိတို့သည် မွတ်စ်လင်မ်တို့အား "အလ်မတ်စ်ဂျိဒုလ်ဟာရာမ်" ခေါ် အလ္လာဟ်အရှင်မြတ်၏ ကျောင်းတော်သို့ သွားရောက်ဝတ်ပြုခြင်းကိုပင် ပိတ်ပင်တားဆီးလျက်ရှိကြကုန်၏။

وَأُولَٰٓئِكَ أَصۡحَٰبُ ٱلنَّارِۖ هُمۡ فِيهَا خَٰلِدُونَ ٢١٧

(အို-မုအ်မင်နီအပေါင်းတို့) စင်စစ်တမူကား၊ အကယ်၍သာ ယင်း(ကာဖိရ်)တို့ တတ်စွမ်းနိုင်ကြပါမူ အသင်တို့ (သက်ဝင်ယုံကြည်လျက်ရှိသော အစ္စလာမ်) သာသနာတော်ကို စွန့်လွှတ်ကြရန်အတွက် အစဉ်မပြတ် အသင်တို့နှင့် ပြိုင်ဆိုင်တိုက်ခိုက်ကြကုန် လတ္တံ့။ ပြီးနောက် အသင်တို့အနက် အကြင်သူ(တို့) သည် မိမိတို့ (သက်ဝင် ယုံကြည်သော အစ္စလာမ်) သာသနာတော်မှ ဖောက်ပြန်၍ "ကာဖိရ်" အဖြစ်နှင့် သေဆုံးကြအံ့၊ ထိုသူတို့၏ အကျင့်သီလဟူသရွေ့တို့ သည် ဤပစ္စုပ္ပန်ဘဝနှင့် နောင်တမလွန်ဘဝ နှစ်ဌာန လုံး၌ပင် အချည်းနှီး အကျိုးမဲ့ ဖြစ်ကြချေ၏။ ဤသူများသည် ငရဲသားများဖြစ်ကြ၏။ ၎င်းတို့သည် ထိုငရဲတွင် အမြဲ ခံစားကြရမည့်သူများပင်တည်း။

إِنَّ ٱلَّذِينَ ءَامَنُواْ وَٱلَّذِينَ هَاجَرُواْ وَجَٰهَدُواْ فِي سَبِيلِ ٱللَّهِ أُوْلَٰٓئِكَ يَرۡجُونَ رَحۡمَتَ ٱللَّهِۚ وَٱللَّهُ غَفُورٞ رَّحِيمٞ ٢١٨

**၂၁၈။** ဧကန်မုချ အကြင်သူတို့သည် "အီမာန်" ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိကြ၏။ ထို့ပြင် အကြင်သူတို့သည် *(မိမိတို့၏နေရင်းဌာနများကိုပင်)* စွန့်၍ [၁] ထွက်ခွာသွားကြကုန်၏။ ထို့ပြင် ယင်းသူတို့သည် *"ဂျိဟာဒ်"* [၂] အလ္လာဟ်အရှင်မြတ်၏လမ်း၌ သက်စွန့်ကြိုးပမ်းဆောင်ရွက်ကြကုန်၏။ ဤသူများသည်ပင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို မြော်လင့် တောင့်တကြကုန်သည်။

---

(၁) အစ္စလာမ်သာသနာကို ကာကွယ်ထိန်းသိမ်း စောင့်ရှောက်ရန်အလို့ငှာ မိမိချစ်မြတ်နိုးသော နေရင်းဌာနနှင့်တကွ အခြား မြတ်နိုးအပ်သောအရာများကို စွန့်လွှတ်၍ "ကုဖ်ရ်" နိုင်ငံမှ "အစ္စလာမ်" ထွန်းကားသောနိုင်ငံသို့ ရွှေ့ပြောင်းနေထိုင်ခြင်းကို "ဟိဂျ်ရတ်" ဟုခေါ်သည်။ (သို့ "ဟိဂျ်ရတ်" ပြုသူကို "မုဟာဂျိရ်" ဟုခေါ်သည်)။ ကြည့်-မာဂျိဒီ။

"ဟိဂျ်ရတ်" ဟူသည် "ကုဖ်ရ်" နိုင်ငံမှ "အစ္စလာမ်" သာသနာထွန်းကားသောနိုင်ငံသို့ ထွက်ခွာသွားခြင်းကို ဆိုသည်။ (ရာဃိဗ်)

(၂) "ဂျိဟာဒ်" ဟူသောပုဒ်သည် ရန်သူကို တွန်းလှန်ကာကွယ်ရန်အတွက် အစွမ်းသတ္တိများကို အစွမ်းကုန် အသုံးပြုခြင်း အနက်ဟောသည်။(ရာဃိဗ်)

>>

ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် အကြိမ်ကြိမ် အဖန်ဖန် ချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ အစဉ်မပြတ် သနားကြင်နာတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

يَسْـَٔلُونَكَ عَنِ الْخَمْرِ وَالْمَيْسِرِ ۖ قُلْ فِيهِمَآ إِثْمٌ

၂၁၉။ (အို-နဗီတမန်တော်) အချို့သောသူတို့သည် သုရာမေရယ *အရက်သေစာနှင့် စပ်လျဉ်း၍၎င်း၊ လောင်းတမ်းကစားခြင်းနှင့် စပ်လျဉ်း၍၎င်း၊* [1] အသင့်ထံ (လာရောက်) မေးမြန်းကြလေသည်။

---

➤➤ "ဂျိဟာဒ်" သည် သုံးမျိုးသုံးစားရှိ၏၊ (က) ရန်သူနှင့် ဂျိဟာဒ် လုပ်ခြင်း။ (ခ) "ရှိုင်တွာန်" နှင့် ဂျိဟာဒ် ပြုလုပ်ခြင်း။ (ဂ) အကုသိုလ်စိတ်နှင့် ဂျိဟာဒ်ပြုခြင်း။ ကြည့်-ရာဃိဗ်။

ဖော်ပြပါ "ဂျိဟာဒ်"နှင့်စပ်လျဉ်း၍ နဗီတမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် အောက်ပါအတိုင်း မိန့်ကြားတော်မူခဲ့လေသည်။

အသင်တို့သည် မိမိတို့ရန်သူများနှင့် ဂျိဟာဒ် ပြုကြသကဲ့သို့ မိမိတို့၏ အကုသိုလ်စိတ်များနှင့်လည်း ဂျိဟာဒ်ပြုကြကုန်။ ရာဃိဗ်။

အသင်တို့သည် မိမိတို့၏လက်များဖြင့်၎င်း၊ မိမိတို့၏နှုတ်လျှာများဖြင့်၎င်း၊ ကာဖိရ်မိစ္ဆာဒိဋ္ဌိတို့နှင့် ဂျိဟာဒ်ပြုကြကုန်။ ရာဃိဗ်။

အထက်တွင် ဖော်ပြပါအတိုင်း 'ဂျိဟာဒ်'သည် အစ္စလာမ်သာသနာကို ထိမ်းသိမ်းကာကွယ် စောင့်ရှောက်ရန် အလို့ငှါ အစွမ်းသတ္တိများကို အသုံးပြုခြင်း၊ ကြိုးပမ်းအားထုတ်ခြင်းပင်ဖြစ်သည်။ သာသနာကို ထိမ်းသိမ်းကာကွယ်ရန် လမ်းစဉ်အရပ်ရပ်အနက် လက်နက်ဆွဲကိုင်၍ ရန်သူတို့အားခုခံကာကွယ် တိုက်ခိုက်ခြင်းသည် ဂျိဟာဒ်၏လမ်းစဉ်တရပ်သာ ဖြစ်ချေသည်။ 'ဂျိဟာဒ်'ပြုသူကို 'မုဂျာဟိဒ်'ဟုခေါ်သည်။

(၁) "ခမ်ရ်"၏ မူရင်းအဓိပ္ပါယ်မှာ ဖုံးအုပ်ထားခြင်းဟု ရသည်၊ ဤသည့်အနက်ကို အကြောင်းပြု၍ အမျိုးသမီးများ ဦးခေါင်းဖုံးအုပ်သော အဝတ်ကိုလည်း "ခိမာရ်" "ခုမုရ်"ဟူ၍၎င်း၊ အုံးခွက် ဖုံးအုပ်ခြင်းကိုလည်း (تخمير الانا) ဟူ၍၎င်း၊ ဖုံးအုပ်ထားရသော "အလင်" ကိုလည်း "ခမီရဟ်"ဟူ၍၎င်း၊ ထို့အတူ အသိအလိမ္မာ ဉာဏ်ပညာကို ဖုံးအုပ်တွေဝေစေတတ်သော သေရည်သေရက်ကိုလည်း "ခမ်ရ်"ဟူ၍၎င်း ခေါ်ဆိုကြ၏။ ဤမုကဒ္ဒပါဌ်တော်တွင် (ခမ်ရ်)အနက်ကို သေရည်သေရက်ဟူ၍ ယူပါကုန်။

"ခမ်ရ်" ဟူသည် အသိဉာဏ်ကို ဖုံးအုပ်စေ၍ မူးယစ်စေတတ်သော အရာအားလုံးအတွက် အသုံးပြုသော အမည်ဖြစ်သည်။ (တာဂ်ျ)

"ခမ်ရ်" ဟူသည် မည်သည့်အရာမှမဆို စစ်ထုတ်ထားသည့် မူးယစ်စေတတ်သော သေရည်သေရက်ကို ဆိုလိုသည်။ (တာဂ်ျ)

"ခမ်ရ်" ဟူသည် အသိဉာဏ်ကို တွေဝေဖုံးအုပ်စေသော အရာကို ဆိုလိုသည်။ (ဗုခါရီ)

မူးယစ်စေတတ်သော အရည်အားလုံးသည် "ဟရာမ်" အလျင်းမသောက်သုံးအပ်ဟု ➤➤

كَبِيرٌ وَمَنَافِعُ لِلنَّاسِ وَإِثْمُهُمَآ أَكْبَرُ مِن نَّفْعِهِمَا ۗ وَيَسْـَٔلُونَكَ مَاذَا يُنفِقُونَ قُلِ الْعَفْوَ ۗ كَذَٰلِكَ يُبَيِّنُ

အသင်သည် (ယင်းသူတို့အား အို-အချင်းတို့) ထို (သေစာအရက်သောက်စားခြင်းနှင့် လောင်းတမ်းကစားခြင်း) နှစ်မျိုးလုံးတို့၌ ကြီးလေးသောအပြစ်များသည်လည်း ရှိ၏။ လူတို့အတွက်ရာ (အနည်းငယ်သော) အကျိုးကျေးဇူးများ သည်လည်းရှိ၏။ သို့ရာတွင် ယင်းအမှုနှစ်မျိုးလုံး၏ အပြစ်များသည် ထိုအမှုနှစ်မျိုးလုံး၏ အကျိုးကျေးဇူးထက် အလွန်ကြီးလေးပေသည်ဟု ဖြေကြားပါလေ။ ၁

➤➤ နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) က မိန့်ကြားတော်မူခဲ့လေသည်။ (မစ်ရှ်ကာတ်)

ရှိုင်တွာန်သည် သေရည်သေရက် အလောင်းအစားနှင့် စပ်လျဉ်း၍ လူသားတို့တွင် ရန်ပွားခြင်း၊ ငြူစူခြင်းများကို ဖြစ်ပွားစေလို၏၊ လူသားတို့အား "ဆွလာတ်" ဝတ်ပြုခြင်း၊ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသခြင်းမှ ပိတ်ပင်တားဆီးလို၏။ ကြည့်- (ကုရ်အာန် ၅း၉၁)။

သေရည်သေရက် သောက်သူများနှင့် စပ်လျဉ်း၍ နဗီတမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် အောက်ပါအတိုင်း မိန့်ကြားတော်မူခဲ့လေသည်။

မိဘစကားကို သွေဖည်သူများ၊ အလောင်းအစားပြုသူများ၊ မိမိ၏ကျေးဇူးကို ထုတ်ဖော်ပြောဆိုလေ့ရှိသူများနှင့် အမြဲသေရည်သေရက် သောက်သောသူများသည် "ဂျန္နတ်" သုခဘုံတွင် စံစားကြရမည်မဟုတ်ဟု နဗီတမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)က မိန့်ကြားတော်မူသည်။ (မစ်ရှ်ကာတ်)

အဂ္ဂမဟာသာဝကကြီး အုမရ်သည် သေရည်သေရက် သောက်စားသောသူများအား ကြိမ်ဒဏ် ၈၀-တိတိ ပေးခဲ့လေသည်။ (မစ်ရှ်ကာတ်)

ဤတွင် အဂ္ဂသာဝကကြီးများနှင့် ဓမ္မသတ်ရှင်များသည် အဆိုညီကြလေသည်။ သေရည်သေရက် သောက်စားသူတို့အား ပြစ်ဒဏ်ပေးခြင်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ဓမ္မသတ်များကို "ဟိဒါယဟ်" ကျမ်းတွင်ရှုပါ။

**မှတ်ချက်။**

အချို့က "တန်ဆေး၊ လွန်ဘေး" ဆိုသကဲ့သို့ သေရည်သေရက် အနည်းငယ်မျှ သောက်သုံးလျှင် မူးယစ်သည်မရှိ၊ အများအပြား သောက်သုံးမှသာလျှင် မူးယစ်သည်ဖြစ်ရာ အနည်းငယ် အရက်သောက်ခြင်းသည် အပြစ်မရှိ၊ တရားတော်နှင့်လည်း မဆန့်ကျင်ဟူ၍ မဟုတ်မလျား ပြောဆိုလေ့ရှိကြသည်။ ယင်းသူတို့၏ စကားများသည် လုံးဝမှားသည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အောက်ပါအတိုင်း မိန့်ကြားတော်မူခဲ့၏။

အကြင်အရာ၏ အများစုသည် မူးယစ်စေတတ်၏၊ ထိုအရာ၏ အနည်းစုသည်လည်း "ဟရာမ်" တားမြစ်ထားသော အရာဖြစ်၏။ (မစ်ရှ်ကာတ်)

① **ဆက်စပ်မှု။**

ကုရ်အာန်ကျမ်းမြတ် (၂း၂၁၇-၂၁၈)တွင် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းအကြောင်း ဖော်ပြပါရှိ၏၊ (၂း၂၁၉)တွင် သေရည်သေရက်သောက်သုံးခြင်း၊ အလောင်းအစားပြုခြင်းအကြောင်း ဖော်ပြပါရှိ၏၊ ➤➤

➤➤ ထိုမုက္ခပါဠ်တော်များသည် အချင်းချင်း အသို့ဆက်စပ်လျက်ရှိသည်ကို ရှင်းပြဦးအံ့။

သေရည်သေရက်သောက်သုံးခြင်းသည် အသိဉာဏ်ကို ချွတ်ယွင်းစေ၏၊ အလောင်းအစားပြုခြင်းသည် ဥစ္စာပစ္စည်းကို ပျက်ပြားစေ၏။ ဤဒုစရိုက်နှစ်ရပ်လုံးသည်ပင် ရန်မီးပွားစေနိုင်၏၊ ဆူပူမှုဖြစ်ပွားစေနိုင်၏၊ ထို့အတွက်ကြောင့် ထိုမှုပြစ်နှစ်ရပ်လုံးကို စစ်မက်အကြောင်းနှင့် ပူးတွဲဖော်ပြမိန့်ဆိုထားခြင်းဖြစ်သည်။

စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရာတွင် အသိဉာဏ်အမြော်အမြင်သည် အရေးကြီးလှ၏။ သို့ရာတွင် များသောအားဖြင့် အရဗ်လူမျိုးတို့သည် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရာတွင် စစ်သည်တော်များအား ရဲဆေးတင်သည်ဆိုသကဲ့သို့ မူးရစ်ပြီး ရန်သူတို့နှင့် တိုက်ခိုက်နိုင်ရန်အလို့ငှာ အရက်တိုက်လေ့ရှိခဲ့ကြ၏။ အမှန်သော်ကား အရက်သောက်ခြင်းဖြင့် မိုက်ရူးရဲစိတ် ပေါ်ပေါက်၍ ပင်ကိုယ်သတ္တိပင် ပျောက်ကွယ်သွားလေသည်၊ ထို့အတွက်ကြောင့် သေရည်သေရက်မသောက်သုံးရန် တားမြစ်တော်မူခြင်းဖြစ်သည်။

စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရာ၌ အသိဉာဏ် လိုအပ်သကဲ့သို့ ဥစ္စာပစ္စည်းကိုလည်း အထူးလိုပေသည်၊ အရဗ်လူမျိုးတို့သည် စစ်အတွက်လိုအပ်သော စစ်စရိတ် ကြေးငွေများ စုဆောင်းနိုင်ရန်အတွက် အလောင်းအစားပြုကြ၏။ အလောင်းအစားသည် ဥစ္စာကို မတိုးပွားစေသည့်ပြင် ပျက်ပြားစေတတ်သည်။ ထို့အတွက် အလောင်းအစားပြုခြင်းကို မြစ်တားတော်မူခြင်းဖြစ်သည်၊ ထိုအလောင်း အစားကို မြစ်တားတော်မူလိုက်သောအခါ အဘယ်အရာကို လှူဒါန်းကြရပါမည်နည်းဟု မေးလာကြ၏၊ ဤသည့်အမေးကို (၂း၂၁၉) တွင်ပင် ဖော်ပြမိန့်ဆိုထားလေသည်။

**ဖော်ပြချက်။**

ကုရ်အာန်ကျမ်းမြတ် (၂း၂၁၉)တွင် သေရည်သေရက် မသောက်သုံးအပ်ကြောင်း၊ အလောင်းအစား မပြုအပ်ကြောင်းနှင့် လှူဒါန်းပေးကမ်းရမည့် အကြောင်းများကို မုက္ခပါဠ်တော် တပါဒတည်းတွင် ဒွန်တွဲ၍ မိန့်ဟောထားတော် မူခြင်းအကြောင်းမှာ အယုတ် အမြတ် လူနှစ်မျိုး၏ အကြောင်းကို ယှဉ်တွဲမိန့်တော်မူခြင်းပင်ဖြစ်သည်။

သေစာအရက် သောက်သုံးသူများနှင့် အလောင်းအစားပြုသော သူများသည် ဥစ္စာပစ္စည်းများကို ဒုစရိုက်မှုများတွင် စည်းမဲ့ကမ်းမဲ့ သုံးဖြုန်းကြ၏၊ ဝါကြွားမောက်မာမှုတို့တွင် ဖြုန်းတီးကြ၏၊ ဤသူတို့ကား သူယုတ်တို့တည်း။

အချို့သူများသည် မိမိတို့၏ ချွေးနည်းစာများကို ဆွေဆင်းရဲ၊ မျိုးဆင်းရဲများနှင့်တကွ အများပြည်သူအကျိုးငှာ တရားသဖြင့် သုံးစွဲလှူဒါန်းကြ၏၊ ဤသူတို့ကား သူမြတ်တို့တည်း။ ဤသို့အားဖြင့် အလ္လာဟ်အရှင်မြတ်သည် ဥစ္စာပစ္စည်းများကို မတရားသုံးဖြုန်းသော သူယုတ်တို့နှင့် ဥစ္စာပစ္စည်းများကို တရားသဖြင့် သုံးစွဲလှူဒါန်းသော သူမြတ်တို့၏အကြောင်းကို ယှဉ်တွဲ၍ မိန့်ကြားတော်မူခြင်းပင်ဖြစ်၏။

<u>သေရည်သေရက်မသောက်သုံးအပ်ကြောင်းနှင့်စပ်လျဉ်း၍ မုက္ခပါဠ်တော်များ ထုတ်ပြန်ပို့ချတော်မူခြင်းအကြောင်း။</u>

သေရည်သေရက်နှင့်စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ်တွင် မုက္ခပါဠ်တော် ၄-ပါး လာရှိ၏။ ထိုမုက္ခပါဠ်တော် ၄-ပါး အနက် ဦးစွာပဌမ၊ "အသင်တို့သည် စွန်ပလွံနှင့်သပြက်သီးတို့မှ မူးယစ်စေတတ်သောအရာနှင့် ကောင်းမြတ်သောအာဟာရများ ပြုလုပ်ကြ၏" ဟူသော မုက္ခပါဠ်တော်သည် မက္ကာမြို့တွင် ကျရောက်လာခဲ့၏။ ကြည့်-ကုရ်အာန် (၁၆း၆၇)။ ထိုအချိန်တွင် မွတ်စ်လင်မ်တို့သည် သေရည်သေရက်ကို သောက်သုံးလျက်ရှိခဲ့ကြ၏။ သေရည်သေရက် သောက်သုံးခွင့်လည်းရှိခဲ့၏။

ထို့နောက် တနေ့သောအခါ သာဝကကြီး အုမရ်။ သာဝကကြီး မုအာဿ်နှင့် အချို့ ➤➤

➤➤ သာ၀ကကြီးများသည် နဗီတမန်တော်ထံသို့ သွားရောက်၍ "အို-အလ္လာဟ်အရှင်မြတ်၏တမန်တော်၊ သေရည်သေရက်သည် အသိဉာဏ်ကိုလည်း ချွတ်ယွင်းစေ၏၊ ဥစ္စာနေကိုလည်း ဆုံးပါးစေ၏၊ သို့အတွက် သေရည်သေရက်နှင့် စပ်လျဉ်း၍ တပည့်တော်တို့အား ဓမ္မသတ် အဆုံးအဖြတ်ပေးတော်မူပါ" ဟု လျှောက်ထားကြလေသည်။

ထိုအခါ အလ္လာဟ်အရှင်မြတ်အထံတော်မှ ("အို-နဗီ) ထိုသေရည်သေရက်ကို သောက်စားခြင်းနှင့် အလောင်းအစားပြုခြင်း နှစ်မျိုးလုံး၌ ကြီးသောအပြစ်ရှိ၏၊ လူတို့အဘို့ အကျိုးများလည်းရှိ၏၊ သို့ရာတွင် ယင်းအမှု နှစ်မျိုးလုံး၏ အပြစ်များသည် ယင်းအမှုနှစ်မျိုးလုံး၏ အကျိုးထက် ကြီးလေးလှပေသည် ဟု ဖြေကြားပါလေ" ဟူသော မုက္ခပါဠ်တော်သည် ကျရောက်လာခဲ့လေသည်။ ကြည့်-ကုရ်အာန် (၂း၂၁၉)။

သို့အမိန့်တော် ကျရောက်လာသည့်အခါ အချို့သာ၀ကများသည် သေရည်သေရက်ကို သောက်မြဲတိုင်း သောက်သုံးလျက်ရှိကြ၍ အချို့က သေရည်သေရက်သောက်စားမှုကို စွန့်လွှတ်လိုက်ကြလေသည်။

ထို့နောက် တနေ့သောအခါ သာ၀ကကြီး အဗ်ဒုရ်ရဟ်မာန် အီဗ်နုအောက်ဖ်က အချို့သာ၀ကများကို ဘိတ်မန္တကပြု၍ ဧည့်ခံကျွေးမွေးလေသည်။ သာ၀ကများသည် ထိုဧည့်ခံပွဲ၌ သောက်စား မူးယစ်ကြ၏၊ သို့သောက်စားမူးယစ်ပြီးနောက် ဆွလာတ်၀တ်ပြုရာ၌ ရှေ့ဆောင် အေမာမ်ဖြစ်သော သာ၀ကတစ်ပါးသည် ( قُلْ يٰٓاَيُّهَا الْكٰفِرُوْنَ ۝ لَآ اَعْبُدُ مَا تَعْبُدُوْنَ ) ဟုဘတ်ရမည့်အစား( قل يـايها الكفر ون اعبد ماتعبدون )ဟု အမှားမှား အယွင်းယွင်း ရွတ်ဘတ်လေတော့၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်ထံတော်မှ "အသင်တို့ မူးယစ်နေသောအချိန်တွင် ဆွလာတ်၀တ်ပြုခြင်း အနီးသို့ပင် မချဉ်းကပ်ကြကုန်လင့်" ဟူသော မုက္ခပါဠ်တော်သည် ကျရောက်လာလေသည်။ ကြည့်-ကုရ်အာန် (၄း၄၃)။

သို့အမိန့်တော်ကျရောက်လာသည့်အခါ သေရည်သေရက်သောက်စားသော သူများသည် နည်းပါးသွားကြ၏။ ထို့နောက် သာ၀ကကြီးဥတ်ဗာန်အီဗ်နုမာလစ်က်က အချို့အမျိုးသားများကို ဘိတ်မန္တကပြု၍ ဧည့်ခံ ကျွေးမွေးလေ၏။ ထိုဧည့်ခံပွဲတွင် သာ၀ကကြီး စအ်ဒ်အီဗ်နုအဗီ၀က္ကာဆွ်သည်လည်း ပါ၀င်ခဲ့၏။ ထိုဧည့်ခံပွဲတွင် သာ၀ကများသည် သောက်စားမူးယစ်ကြပြီး အချင်းချင်း ၀ါကြွား ဂုဏ်ပြိုင်ကြ၏။ သီချင်းများသီဆိုကြ၏။

နောက်ဆုံး အဂ္ဂသာ၀ကကြီး စအ်ဒ်အီဗ်နုအဗီ၀က္ကဆွ်က အန်ဆွာရီများ၏အပြစ်ကို ဖော်ပြကာ လင်္ကာတစ်ပုဒ်ကို သီဆိုမိတော့၏။ သို့သီဆိုမိသောအခါ အန်ဆွာရီများအနက်မှ သာ၀ကတစ်ပါးက ထိုသာ၀ကကြီးအား ကုလားအုပ်ပါးစောင်ရိုးဖြင့်ရိုက်၍ ဦးခေါင်းကိုဟက်တက်ကွဲစေခဲ့၏။ ထိုအခါ သာ၀ကကြီး စအ်ဒ်သည် နဗီတမန်တော်ထံသို့ သွားရောက်တိုင်တန်းလေ၏။

ထိုအချိန်တွင် အဂ္ဂသာ၀ကကြီး အုမရ်က "အို-အလ္လာဟ်အရှင်မြတ်၊ သေရည်သေရက်နှင့် စပ်လျဉ်း၍ ကျွန်တော်မျိုးတို့အား အတိအကျ ဖွင့်ဟမိန့်ဆိုတော်မူပါ"ဟု ဆုပန်လေသည်။ ထိုအခါ "မုချသေရည်သေရက်သည် ...ရှိုင်တွာန်၏ ရွံရှာစက်ဆုပ်ဘွယ်ကောင်းသော အပြုအမူမျှဖြစ်သည်၊ အသင်တို့သည် ထိုအပြုအမူကို ၀េးစွာ ရှောင်ကြဉ်ကြကုန်လော့"...ဟူသော မုက္ခပါဠ်တော်သည်ကျရောက်လာသည်။ ကြည့်-(ကုရ်အာန် ၅း၉၀)။

ထိုအမိန့်တော်၏ နောက်ဆုံးတွင် "အသင်တို့သည် စွန့်လွှတ်သောသူများ ဖြစ်ကြပါသလော" (တနည်း "အသင်တို့ မစွန့်လွှတ်ကြသေးသလော")ဟု မိန့်ဆိုထားပေရာ အဂ္ဂသာ၀ကကြီး အုမရ်က "ကျွန်တော်မျိုးတို့သည် စွန့်လွှတ်ကြပါပြီ" ဟု လျှောက်ထားလေသည်။

ထိုအချိန်မှစ၍ သေရည်သေရက် သောက်စားခြင်းသည် "ဟရာမ်" လုံး၀ ပိတ်ပင်မြစ်တားထားသော အရာဖြစ်သွားလေသတည်း။

ٱللَّهُ لَكُمُ ٱلْءَايَٰتِ لَعَلَّكُمْ تَتَفَكَّرُونَ ﴿٢١٩﴾

ထိုမှတပါးတုံ ယင်းသူတို့သည် (ကုသိုလ်အကျိုးငှာ) *မည်မျှလောက်သော ဝတ္ထုပစ္စည်းများကို ပေးကမ်း လှူဒါန်းရပါမည်နည်းဟု* [၁] အသင့်ထံ လာရောက်မေးမြန်းကြပြန်ရာ အသင်သည်(ယင်းသူတို့အား အို-အချင်းတို့ အသင်တို့သည် မိမိတို့အဘို့ လိုအပ်သည်ထက်) *ပိုလျှံသောပစ္စည်းများ* [၂] (အနက်မှ စွမ်းအားရှိသမျှကို ပေးကမ်း လှူဒါန်းနိုင်ကြသည်) ဟု ဖြေကြားပါလေ။ အလ္လာဟ်အရှင်မြတ်သည် ဤကဲ့သို့ပင် ဒေသနာတော်များကို အသင်တို့အား လိုက်နာကျင့်ဆောင်နိုင်ကြရန် ရှင်းလင်းထင်ရှားစွာ မိန့်ကြားတော်မူသည်။ သို့မှသာလျှင် အသင်တို့သည် (လောကီနှင့်လောကုတ္တရာရေးတို့ကို ကောင်းစွာ) *စဉ်းစားဆင်ခြင်ကြတန်ရာသတည်း။* [၃]

---

(၁) **ထုတ်ပြန်ပို့ချတော်မူသည့်အကြောင်း။**

သာဝကကြီး မုအာသ်အီဗ်နုဂျဗလ်နှင့် သာဝကကြီး ဆအ်လဗဟ်တို့သည် နဗီတမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လာမ်)ထံသို့ ဝင်ရောက်၍ "အို-အလ္လာဟ်အရှင်မြတ်၏ နဗီတမန်တော်၊ ကျွန်တော်များ၌ အိမ်သူအိမ်သားများရှိကြပါ၏၊ ထို့ပြင် ကျေးကျွန်များလည်း ရှိကြပါ၏၊ ကျွန်တော်များ၌ ကျွန်တော်များ၏ ဥစ္စာပစ္စည်းများအနက် အချို့အဝက်ကို လှူဒါန်းရန် တာဝန်ရှိပါသလောဟု တမန်တော်ထံ အခွင့်ပန်သောအခါ ဤမုကဒ္ဒပါဠ်တော် ကျရောက်လာလေသည်။ ကြည့်-အီဗ်နုကဆီရ်၊

(၂) လိုအပ်သည်ထက် ပိုလျှံသော ဥစ္စာပစ္စည်းများကို လှူဒါန်းကြကုန်ဟူလို။ မဒါရစ်က်

ကုရ်အာန်ကျမ်းမြတ် (၂း၁၂၉)တွင် ပိုလျှံသော ဥစ္စာပစ္စည်းများကို လှူဒါန်းရမည်ဟု မိန့်ဆိုထားရာ၌ "ဖရသွ်"အဖြစ် သတ်မှတ်ပြဋ္ဌာန်းထားသော "ဇကာတ်" အပြင် အများပြည်သူအကျိုးငှာ လှူဒါန်းပေးကမ်းခြင်းများကို ဆိုလိုသည်။ ကြည့်-(အလ်မနာရ်)။

(၃) အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ်တော်မူသော ဒေသနာတော်များသည် လောကီ၊ လောကုတ္တရာ နှစ်ဖြာသော အကျိုးများကို ပွားတိုးစေသည်။ ရုပ်တရား ၊ နာမ်တရားများကိုလည်း ယှဉ်တွဲ၍ညွှန်ပြသည်၊ ဤသည်ကိုပင် အကြောင်းပြု၍ နဗီတမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လာမ်)က "ပစ္စုပ္ပန်လောကသည် နောင်တမလွန်ဘဝ၏ စိုက်ပျိုးရာဌာနဖြစ်သည်" ဟု မိန့်ကြားတော်မူခဲ့လေသည်။

**မှတ်ချက်**

ကုရ်အာန်ကျမ်းမြတ် (၂း၂၂၀)၏အစတွင် ပါရှိသော ( فِى ٱلدُّنْيَا وَٱلْءَاخِرَةِ ) ဟူသော မုကဒ္ဒပါဠ်တော်သည် အာယတ်စဉ်အရ (၂း၂၂၀)တွင် ပါဝင်နေသော်လည်း အဓိပ္ပါယ်အားဖြင့် (၂း၂၁၉)နှင့်သာ သက်ဆိုင်သည်ကို သတိမူပါကုန်။

فِى الدُّنْيَا وَالْاٰخِرَةِ ۗ وَيَسْـَٔلُوْنَكَ عَنِ الْيَتٰمٰى ۗ قُلْ اِصْلَاحٌ لَّهُمْ خَيْرٌ ۗ وَاِنْ تُخَالِطُوْهُمْ فَاِخْوَانُكُمْ ۗ وَاللّٰهُ يَعْلَمُ الْمُفْسِدَ مِنَ الْمُصْلِحِ ۗ وَلَوْ شَآءَ اللّٰهُ لَاَعْنَتَكُمْ ۗ اِنَّ اللّٰهَ عَزِيْزٌ حَكِيْمٌ ﴿٢٢٠﴾

၂၂၀။ ဤပစ္စုပ္ပန်ဘဝနှင့် နောင်တမလွန်ဘဝ (၏ ကိစ္စအဝဝတို့)နှင့်စပ်လျဉ်း၍။ ထို့ပြင်တဝ (အို- နဗီတမန်တော်) ယင်းသူတို့သည် အသင့်ကို ဘမဲ့ ကလေးသူငယ်များနှင့် ပတ်သက်၍လည်း [၁] (လာ ရောက်) မေးမြန်းကြ၏။ အသင်သည် ယင်းသူတို့ကို (ဤသို့) ဖြေကြားပါလေ။ ထိုဘမဲ့ကလေးသူငယ်တို့ (၏အခြေအနေ)ကို ကောင်းမွန်မှန်ကန်အောင် ပြုပြင် ပေးခြင်းသည်သာလျှင် အကောင်းဆုံး အမြင့်မြတ်ဆုံး ပင်ဖြစ်သည်။ အကယ်၍သာ အသင်တို့သည် ယင်းသူငယ်တို့နှင့် ရောနှော ပေါင်းစပ်ကြပါလျှင် (စိုးရိမ်စရာမရှိ) ထိုဘမဲ့ ကလေးသူငယ်တို့သည် အသင်တို့၏ ညီနောင်များပင် ဖြစ်ကြကုန်၏။

---

(၁) **ထုတ်ပြန်ပို့ချတော်မူခြင်း။**

ကုရ်အာန်ကျမ်းမြတ် (၆:၁၅၃၊ ၁၇:၃၄)တွင် "အသင်တို့သည် ကောင်းမြတ်သောနည်းမှတပါး အခြားနည်းနှင့် မိသက်ဆိုး ဘသက်ဆိုး၏ ဥစ္စာပစ္စည်းအနီးသို့ပင် မချဉ်းကပ်ကြကုန်လင့်" ဟူ၍၎င်း၊ ကုရ်အာန်ကျမ်းမြတ် (၄:၁၀)တွင် မိသက်ဆိုးဘသက်ဆိုးတို့၏ ဥစ္စာပစ္စည်းများကို မတရားသဖြင့် စားသုံးသောသူများသည် မိမိတို့၏ဝမ်းဗိုက်တွင်းသို့ မီးကိုသာ မျိုသွင်းစားသုံးရာမည်ကြသည်။

(ထို့ပြင်တဝ) ယင်းသူတို့သည် မကြာမီအတွင်း ငရဲလားကြလိမ့်မည်" ဟူ၍ ၎င်းမုက္ခပါဌ်တော် ကျရောက်လာသောအခါ မိသက်ဆိုး ဘသက်ဆိုးများကို အုပ်ထိန်းသော သာဝကကြီးများသည် (စိုးရိမ် မကင်းဖြစ်ကာ) မိမိတို့၏ စားဘွယ်သောက်ဘွယ် အစာအာဟာရများကို မိသက်ဆိုး ဘသက်ဆိုးတို့၏ စားဘွယ်သောက်ဘွယ် အစာအာဟာရများနှင့် ခွဲခြားထားကြကုန်၏။ သို့အစာအာဟာရ များကို ခွဲခြားထားသောအခါ မိသက်ဆိုး ဘသက်ဆိုးတို့၏ အစာအာဟာရများအနက် အချို့အဝက်သည်(မကြာခဏ) ပိုမိုကြွင်းကျန်၍လာလေသည်။သို့ကြွင်းကျန်နေသော အစာအာဟာရများကိုလည်း ထိုမိသက်ဆိုး ဘသက်ဆိုးကလေးများ စားသုံးရန်အလို့ငှာ အုပ်ထိန်းသူများသည် သိမ်းဆည်းထားကြကုန်၏၊ (ကလေးများမစားသုံးသောအခါ၌) ထိုကြွင်းကျန်သော စားဘွယ်သောက်ဘွယ်တို့သည် ပျက်စီးကြကုန်၏။ သို့အစားအစာများ မကြာခဏ ပျက်စီးသွားခြင်းသည် အုပ်ထိန်းသူများအဘို့ ကြီးလေးသော ပြဿနာတစ်ရပ်ဖြစ်လာသောအခါ အုပ်ထိန်းသူများသည် နဗီတမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လာမ်)ထံသို့ ဝင်ရောက်၍ ထိုပြဿနာကို မေးမြန်းကြလေသည်၊ ထိုအခါ ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော်(၂:၂၂၀) ကျရောက်လာလေသည်။ ကြည့်-(အီဗ်နကသီရ်)။

"ယတာမာ" ဟူသောပုဒ်သည် "ယတီမ်"ဟူသောပုဒ်၏ဗဟုဝုစ်ကိန်းဖြစ်သည်။ "ယတီမ်"ဟူသည့် ဝေါဟာရတွင် မိသက်ဆိုး ဘသက်ဆိုး ကလေးသူငယ်လူမမယ်တို့ကို ဆိုလိုသည်။ "ရှရီအတ်" ➤➤

စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ဘသက်ဆိုးတို့၏ ပျက်စီးရာပျက်စီးကြောင်းကို ကြံစည်သောသူများနှင့် ကောင်းမွန်အောင် ပြုပြင်ပေးသောသူများကို ခွဲခြား၍သိရှိတော်မူသည်။ ထိုမှတပါးတုံ အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် အလိုတော်ရှိတော်မူခဲ့ပါလျှင် အသင်တို့ကို (မိဘမဲ့ကလေးသူငယ်များနှင့်ပတ်သက်၍ ခဲယဉ်းသောစည်းမျဉ်းဥပဒေသတ်မှတ်တော်မူပြီးလျှင်) မုချ ဒုက္ခရောက်စေတော်မူပြီးဖြစ်ချေပြီ။ မုချ အလ္လာဟ်အရှင်မြတ်သည် တန်ခိုးအာနုဘော်ဖြင့်လွှမ်းမိုးတော်မူသောအရှင်၊ အကျိုးအကြောင်း ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူသတည်း။

၂၂၁။ (အို-"အီမာန်" ယုံကြည်ခြင်း သဒ္ဓါတရားထားရှိကြသော "မုအ်မင်န်" အပေါင်းတို့) အလ္လာဟ်အရှင်မြတ်နှင့်ယှဉ်တွဲ၍အခြားအရာကိုကိုးကွယ်သောမိန်းမများသည် "အီမာန်" ယုံကြည်ခြင်း သဒ္ဓါတရားမထားရှိကြသမျှ ကာလပတ်လုံး ထိုမိန်းမများနှင့် အသင်တို့သည် ထိမ်းမြားမင်္ဂလာမပြုကြကုန်လင့်။

وَلَا تَنكِحُوا الْمُشْرِكَٰتِ حَتَّىٰ يُؤْمِنَّ ۚ وَلَأَمَةٌ مُّؤْمِنَةٌ خَيْرٌ مِّن مُّشْرِكَةٍ وَلَوْ أَعْجَبَتْكُمْ ۗ وَلَا تُنكِحُوا الْمُشْرِكِينَ حَتَّىٰ

➤➤ ပဋိပါတ်၌မူ "ယတီမ်" ဟူသည် ဘသက်ဆိုးကိုသာဆိုလိုသည်။ မိသက်ဆိုးကိုမဆိုလိုပေ။ "ယတာမာ" ဟူသည် အရွယ်မရောက်သေးသည့် ဘသက်ဆိုးကလေးသူငယ် လူမမယ်များကိုသာဆိုလိုသည်။ (ဂျဆ်ဆွာဆ္ဆ်)။ ကုရ်အာန်ကျမ်းမြတ်တွင် မိသက်ဆိုးဘသက်ဆိုး ကလေးများကို ကောင်းမွန်စွာ ပြုစုရမည့်အကြောင်း၊ ထိုကလေးသူငယ်များ၏ ဥစ္စာပစ္စည်းများကို အလွဲသုံးစား မပြုရမည့်အကြောင်း၊ ထိုကလေးသူငယ်များနှင့် ကောင်းစွာဆက်ဆံရမည့်အကြောင်းကို များစွာသော နေရာများ၌ ဖော်ပြထားသည်။ ကြည့်-ကုရ်အာန် ၂း၈၃၊ ၂း၁၇၇၊ ၂း၂၁၅၊ ၂း၂၂၀၊ ၄း၂-၃၊၄း၆၊ ၄း၈-၁၀၊ ၄း၃၆၊ ၄း၁၂၇၊ ၆း၈၅၂၊ ၈း၄၁၊ ၁၇း၃၄၊ ၁၈း၈၂၊ ၅၉း၇၊ ၇၆း၈၊ ၈၉း၁၇၊၉၀း၁၅၊ ၉၃း၆၊ ၁၀၇း၁-၂။

နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် မိမိကိုယ်တိုင် မိသက်ဆိုးဘသက်ဆိုးဘဝနှင့် ရင်ဆိုင်ခဲ့ရဖူးရာ မိသက်ဆိုး ဘသက်ဆိုးတို့အား ထိန်းသိမ်း စောင့်ရှောက်ရ မည့်အကြောင်း၊ သနားကြင်နာ ညှာတာရမည့်အကြောင်း၊ စာနာခြင်းတရား ထားရှိရမည့်အကြောင်းများနှင့် စပ်လျဉ်း၍ အများအပြားသြဝါဒစကား ဟောကြားတော်မူခဲ့၏။

يُؤْمِنُوا ۚ وَلَعَبْدٌ مُؤْمِنٌ خَيْرٌ
مِنْ مُشْرِكٍ وَلَوْ أَعْجَبَكُمْ ۗ
أُولَٰئِكَ يَدْعُونَ إِلَى النَّارِ ۖ
وَاللَّهُ يَدْعُو إِلَى الْجَنَّةِ
وَالْمَغْفِرَةِ بِإِذْنِهِ ۖ وَيُبَيِّنُ
آيَاتِهِ لِلنَّاسِ لَعَلَّهُمْ
يَتَذَكَّرُونَ ﴿٢٢١﴾

အမှန်သော်ကား အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲ၍ အခြားအရာကိုကိုးကွယ်သော မိန်းမတစ်ဦးသည် အသင်တို့အဘို့ အကယ်၍ နှစ်သက်စရာဖြစ်ငြားသော်လည်း "အီမာန်" ယုံကြည်ခြင်း သဒ္ဓါတရားထားရှိသော ကျွန်မိန်းမတစ်ဦးသည် (အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲ၍ အခြားအရာကို ကိုးကွယ်သော) ထိုမိန်းမထက် မုချ သာ၍ကောင်း၏။ ထိုနည်းတူစွာ အလ္လာဟ်အရှင်မြတ်နှင့်ယှဉ်တွဲ၍ အခြားအရာကိုကိုးကွယ်သော ယောကျာ်းများသည် "အီမာန်" ယုံကြည်ခြင်းသဒ္ဓါတရား မထားရှိကြသမျှ ကာလပတ်လုံး ထိုသူများနှင့် (မွတ်စ်လင်မ်အမျိုးသမီးများကို) ထိမ်းမြား၍ မပေးကြကုန်လင့်။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်နှင့်ယှဉ်တွဲ၍ အခြားအရာကို ကိုးကွယ်သူတစ်ဦးသည် အသင်တို့အဘို့ အကယ်၍ နှစ်သက်စရာဖြစ်ငြားသော်လည်း "အီမာန်" ယုံကြည်ခြင်း သဒ္ဓါတရားထားရှိသော ကျွန်ယောကျာ်းတစ်ဦးသည် (အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲ၍ အခြားအရာကို ကိုးကွယ်သော) ထိုယောကျာ်းထက် မုချ သာ၍ကောင်း၏။ [1]

---

(၁) **ထုတ်ပြန်ပို့ချတော်မူခြင်းအကြောင်း။**

နဗီတမန်တော် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် မက္ကာမြို့မှ အချို့သော မွတ်စ်လင်မ်များကို ထုတ်ဆောင်တော်မူရန်အလို့ငှာ "မရ်ဆဒ်အလ်ဃနဝီ"အား မက္ကာမြို့သို့စေလွှတ်တော်မူ၏။ မက္ကာမြို့သို့ ရောက်ရှိသော် "မရ်ဆဒ်" ထံသို့ အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲ၍ ဘုရားအများကိုကိုးကွယ်သော "အနာက်" အမည်ရှိသော အမျိုးသမီးတစ်ဦး ရောက်ရှိလာ၏။ မရ်ဆဒ်သည် "ဂျာဟိလီယတ်" အမိုက်ခေတ်တွင် ထိုအမျိုးသမီးနှင့် ချစ်ခင်စုံမက်ခဲ့ဘူး၏။ "မရ်ဆဒ်" အား ထိုအမျိုးသမီးက "ကျွန်မတို့ ရင်းနှီးစွာ အတူတကွနေထိုင်ကြစို့" ဟုပြောဆိုသောအခါ မရ်ဆဒ်က အစ္စလာမ်သာသနာသည် ငါတို့ကြား၌ ခွဲခြားလျက် ရှိပေသည်ဟု ပြန်လည်ဖြေကြားလေသည်။ သို့ ဖြေကြားသောအခါ ထိုအမျိုးသမီးက ဆက်လက်၍ "အသင့်မှာ ကျွန်မနှင့်ထိမ်းမြားပိုင်ခွင့် ရှိပါသလား" ဟု မေးမြန်းရာ မရ်ဆဒ်က "ဟုတ်ကဲ့၊ သို့ရာတွင် ကျွန်ုပ်သည် နဗီတမန်တော် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)ထံသို့ ပြန်၍ ဤအကြောင်းနှင့်စပ်လျဉ်းပြီး ➤➤

➤➤ ခွင့်ပန်လျှောက်ထားပါဦးမည်" ဟု ပြန်လည်ဖြေကြားလေသည်။ သို့ဖြေကြားသည့်အတိုင်း မရ်ဆဒ်သည် ထိုအကြောင်းနှင့်စပ်လျဉ်း၍ နဗီတမန်တော်အား လျှောက်ထားသည့်အခါ ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော် (၂း၂၂၁)သည် ကျရောက်လာလေသည်။

ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော် (၂း၂၂၁)ကို ထုတ်ပြန်ပို့ချတော်မူခြင်းအကြောင်းနှင့် စပ်လျဉ်း၍ အခြားအဆိုများကို "အလ်မနာရ်"ကျမ်းတွင် ရှုပါ။

ထိမ်းမြားမင်္ဂလာမှုသည် အကြင်လင်မယားနှစ်ဦးတို့၏ ဘာသာအယူဝါဒ တူမျှခြင်း၊ တစ်ဦးနှင့်တစ်ဦး ချစ်ခင်စုံမက်ခြင်း၊ ကိုယ့်အကျိုးသူ့အကျိုးကို လိုလားခြင်း၊ သနားကြင်နာ ညှာတာခြင်း၊ သဘောမျှခြင်းနှင့် စည်းလုံးညီညွတ်ခြင်းတို့အပေါ်၌ တည်ရှိပေသည်။ ထိုသို့သော အချက်အလက်များနှင့် ပြည့်စုံသော အကြင် လင်မယား တို့သည်သာလျှင် ဥမကွဲ သိုက်မပျက် အစွန့်ရှည်စွာ ပေါင်းသင်းနေနိုင်ကြပေသည်။

ထိုသို့မဟုတ်ပဲ အကယ်၍ အကြင်လင်မယားနှစ်ဦးတို့သည် မိမိတို့သက်တမ်းတစ်လျှောက်လုံးတွင် လွတ်လပ်စွာ ယုံကြည်ကိုးကွယ်ရမည့် သာသနာရေးဆိုင်ရာ အဓိကဖြစ်သော ယုံကြည်ခြင်း သဒ္ဓါတရားများတွင်ပင် အချင်းချင်း အယူအဆ သဘောမမျှကြဘဲ တစ်ဦးနှင့်တစ်ဦး ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်နေကြပါလျှင် ထိုလင်မယားနှစ်ဦးတို့သည် အစွန့်ရှည်စွာ ပေါင်းသင်းနေထိုင်ကြမည် မဟုတ်ပေ။ အနေးနှင့်အမြန်ဆိုသလို ကွဲကြမည်မှာ မလွဲဧကန်ပင်။

အစ္စလာမ်သာသနာတွင် ထိမ်းမြားခြင်းသည် (Civil Contract)မဟုတ်။ နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လာမ်)၏ "စွန္နတ်" လိုက်နာဆောင်ရွက်ရမည့် ကျင့်စဉ်တစ်ရပ်ဖြစ်ပေသည်။

ထို့ပြင်တဝ အယူဝါဒသဘောချင်း မမျှသော သူနှစ်ဦးတို့၏ အတူပေါင်းသင်း နေထိုင်ခြင်းသည် သဘာဝဓမ္မနှင့်လည်းမညီပေ။ အစ္စလာမ်သာသနာသည် အစစအရာရာတွင် သဘာဝဓမ္မကို ထောက်ထားပေရာ ထိုသို့ ဝါဒသဘောချင်း မမျှသောသူနှစ်ဦးတို့၏ ထိမ်းမြားခြင်းကို အဘယ်မှာလျှင် ခွင့်ပြုနိုင်အံ့နည်း။

"မုရှ်ရိကာတ်" ဟူသည် "ကာဖိရ်" အမျိုးသမီးအားလုံးကို ဆိုလိုသည်။

ကုရ်အာန်ကျမ်းမြတ်သည် မွတ်စ်လင်မ်ယောကျ်ားတို့အား မွတ်စ်လင်မ်မဟုတ်သော ကာဖိရ်-မုရှ်ရိက် အမျိုးသမီးတို့နှင့် ထိမ်းမြားခြင်းကို ပိတ်ပင်မြစ်တားထားလေသည်၊ သို့ရာတွင် ကျမ်းရလူမျိုးများဖြစ်သော ဂျူးဘာသာဝင်၊ ခရစ်ယာန်ဘာသာဝင် အမျိုးသမီးတို့နှင့် ထိမ်းမြားခြင်းကိုကား ချွင်းချက်အားဖြင့် ခွင့်ပြု ထားလေသည်။ ကြည့်-ကုရ်အာန်(၅း၅)။

("မုရှ်ရိက်" အမျိုးသမီးများနှင့် ထိမ်းမြားခြင်းမပြုရန် ပိတ်ပင်မြစ်တားထားသော) ဤအမိန့်တော်သည် ကုရ်အာန်ကျမ်း(၅း၅)အရ "ကိတာဗိယာတ်" ကျမ်းဂန်ရအမျိုးသမီးတို့မှအပ အခြားကာဖိရ် အမျိုးသမီးများနှင့်သာ သက်ဆိုင်ပေသည်။ (ဂျလာလိုင်န်)

"ကာဖိရ်" "မုရှ်ရိက်" အမျိုးသမီးတို့နှင့် ထိမ်းမြားခြင်းမပြုရန် ပိတ်ပင်မြစ်တားထားသော်လည်း အကယ်၍ ထိုအမျိုးသမီးများသည် အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်လာကြပါလျှင် ထိုအမျိုးသမီးများနှင့် ထိမ်းမြားပိုင်ခွင့်ရှိသည်။

"ကာဖိရ်"၊ "မုရှ်ရိက်" အမျိုးသမီးများနှင့် မထိမ်းမြားရန် ပိတ်ပင်မြစ်တားထားခြင်းအကြောင်းမှာ ဘာသာ အယူဝါဒ ခြားနားခြင်းကြောင့်ပင်ဖြစ်သည်။

မျိုးရိုးခြားနားခြင်း၊ တိုင်းပြည်ခြားနားခြင်း၊ အသွေးအရောင်ခြားနားခြင်းနှင့် လူတန်းစား ကွဲပြားခြင်း တို့သည် မထိမ်းမြားရန် အကြောင်းတရားများ မဟုတ်ပေ။ ကြည့်-(မာဂျိဒီ)။

(အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲ၍အခြားအရာကို ကိုးကွယ်သောသူတို့သည် အသင်တို့အား) ငရဲမီးသို့ ခေါ်ဆောင်ကြကုန်၏။ အလ္လာဟ်အရှင်မြတ်မှာမူ မိမိ၏ဆန္ဒတော်ဖြင့် (အသင်တို့အား) ဂျန္နတ်အမတသုခဘုံသို့၎င်း၊ အပြစ်များမှ လွတ်ငြိမ်းချမ်းသာခွင့်ပေးသနားတော် မူခြင်းသို့၎င်း၊ ခေါ်ဆောင်လျက်ရှိတော်မူ၏။ ထို့ပြင်တဝ ထိုအရှင်မြတ်သည် လူသားတို့ သတိတရား ရစိမ့်သောငှာ မိမိ၏ တရားဒေသနာတော်များကို ထင်ရှားစေတော်မူ၏။

၂၂၂။ ထိုမှတပါးတုံ၊ (အို-နဗီတမန်တော်) အသင့်အား ထိုသူတို့သည် ရာသီပန်းပွင့်ခြင်း အကြောင်းနှင့် စပ်လျဉ်း၍မေးမြန်းကြ၏။ အသင်သည် (ထိုသူတို့အား၍သို့)ဖြေကြားပါလေ။ ထို(ရာသီပန်းပွင့်ခြင်း) သည် စက်ဆုပ်ရွံရှာဘွယ်ရာဖြစ်သောအညစ်အကြေးတစ်မျိုးပင်ဖြစ်ချေသည်။ သို့ဖြစ်ရာ ရာသီပန်းပွင့်သည့်အချိန်တွင် အသင်တို့သည် ဇနီးမိန်းမများနှင့် (ကာယသံသဂ္ဂပြုခြင်းမှ) ခွဲခွာ၍နေကြလေကုန်၊ [၁]

وَيَسْـَٔلُونَكَ عَنِ الْمَحِيضِ ۖ قُلْ هُوَ أَذًى فَاعْتَزِلُوا النِّسَاءَ فِي الْمَحِيضِ ۖ وَلَا تَقْرَبُوهُنَّ حَتَّىٰ يَطْهُرْنَ ۖ فَإِذَا تَطَهَّرْنَ فَأْتُوهُنَّ مِنْ حَيْثُ أَمَرَكُمُ

---

(၁) **ဆက်စပ်မှု။**

ကုရ်အာန်ကျမ်းမြတ် ဂါဝီကဏ္ဍ၊ အပိုဒ် ၂၈-မှ အပိုဒ် ၃၁-အထိတွင် ရာသီပန်းပွင့်ခြင်းအကြောင်း၊ ကာယသံသဂ္ဂပြုခြင်း အကြောင်း၊ လင်ခန်းမယားခန်း ပြတ်စဲခြင်းအကြောင်း၊ မုဆိုးမများ အကြောင်းများ ပါရှိ၏။ ဤအကြောင်းများသည် တစ်ခုနှင့်တစ်ခု ဆက်စပ်လျက်ရှိ၏။

စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်သည့်အခါတွင် စစ်သည်တော်များသည် နည်းများမဆို ကျဆုံး တတ်ကြပေရာ ကျဆုံးသော စစ်သည်တော်များ၏ ဇနီးမိန်းမများသည် မုဆိုးမဘဝသို့ ရောက်လာကြရ၏။ ထိုမုဆိုးမများ၏ ပြန်လည် ထိမ်းမြားရေး ပြဿနာနှင့် ပြန်လည် ထိမ်းမြားနိုင်ရန်အတွက် "အစ်ဒ်ဒတ်" ဆိုင်းငံ့ရန် သတ်မှတ်ထားသော အချိန်ကာလ ပြဿနာများလည်း တပါတည်း ပေါ်ပေါက်လာ၏။ ဤဆိုင်းငံ့ခြင်း ပြဿနာသည် ကွာရှင်းခြင်းခံရသော အမျိုးသမီးတို့နှင့်လည်းသက်ဆိုင်ပေ၏။ တဖန် ကွာရှင်းခြင်းပြဿနာသည် ရာသီပန်းပွင့်ခြင်းနှင့် သက်ဆိုင်လျက်ရှိပေ၏။ ထို့အတွက်ကြောင့် အထက်ဖော်ပြပါ အကြောင်းများနှင့် အခြားဆက်စပ်လျက်ရှိသော အကြောင်းများကို ကုရ်အာန်ကျမ်းမြတ် အပိုဒ် ၂၈ မှ ၃၁ တွင် တဆက်တည်း ဖွင့်ဟ မိန့်ဆိုထားတော်မူခြင်း ဖြစ်ပေသတည်း။

اللّٰهُ ۭ اِنَّ اللّٰهَ يُحِبُّ التَّوَّابِيْنَ وَيُحِبُّ الْمُتَطَهِّرِيْنَ ﴿٢٢٢﴾

ငှင်းပြင် ထိုဇနီးမိန်းမများ သန့်စင်လာကြသည့်တိုင်အောင် အသင်တို့သည် ထိုဇနီးမိန်းမများထံသို့ မချဉ်းကပ်ကြကုန်လင့်။ သို့ရာတွင် ထိုဇနီးမိန်းမများ (ကောင်းစွာ) သန့်စင်လာကြသောအခါ အသင်တို့သည် အလ္လာဟ်အရှင်မြတ် အမိန့်တော်ရှိထား တော်မူသည်နှင့်အညီ ထိုဇနီးမိန်းမများထံသို့ ချဉ်းကပ်ကြကုန်။ ဧကန်မုချ အလ္လာဟ်အရှင်မြတ်သည် (မေ့မှားမှုကို) ဝန်ချတောင်းပန်သော သူများကို ချစ်နှစ်သက်တော်မူ၏။ ထို့အတူ ထိုအရှင်မြတ်သည်သန့်ရှင်းစင်ကြယ်သောသူများကိုလည်း ချစ်နှစ်သက်တော်မူ၏။ ၁

---

(၁) **ထုတ်ပြန်ပို့ချတော်မူခြင်း။**

အစ္စလာမ်သာသနာ မထွန်းကားမီ "ဂျာဟိလီယတ်" အမိုက်ခေတ်တွင်ရှိသော အရဗ်မိစ္ဆာဒိဋ္ဌိတို့သည် "ယဟူဒီ" နှင့် "မဂျူစီ" များကဲ့သို့ပင် ရာသီပန်းပွင့်နေသော ဇနီးမိန်းမများနှင့် အတူနေထိုင်စားသောက်မှုများ မပြုလုပ်ကြချေ။ ထိုကဲ့သို့ ရာသီပန်းပွင့်နေသော ဇနီးမိန်းမများနှင့် အတူနေထိုင်စားသောက်မှု မပြုလုပ်ခြင်းသည် အရဗ်တို့တွင်လည်း ထုံးတမ်းစဉ်လာတစ်ခု ဖြစ်လျက်ရှိတော့၏။

တနေ့သော် "အဗုဒ်ဒဟ်ဒါဟ်" အမည်ရှိသော သာဝကကြီးက အချို့သာဝကကြီးများရှေ့မှောက်တွင် [နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လာမ်)အား] ထိုအကြောင်းနှင့် စပ်လျဉ်း၍ မေးမြန်းလေသည်။ ထိုအခါ ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော် (၂း၂၂၂)သည် ကျရောက်လာလေသည်။

ရာသီပန်းပွင့်လျက်ရှိသော ဇနီးမိန်းမနှင့် ကာယသံသဂ္ဂအမှု မပြုရန် မုက္ခပါဌ်တော် ကျရောက်လာသည့်အခါ နဗီတမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က "အသင်တို့သည် ကာယသံသဂ္ဂအမှုပြုခြင်းမှအပ အခြားကိစ္စအရပ်ရပ်ကို ပြုလုပ်ကြကုန်" ဟု ရှင်းပြမိန့်ကြားတော်မူလေသည်။

ကြည့်-(အလ်မနာရ်)၊ (အီဗ်နုကဆီရ်)။

ကုရ်အာန်ကျမ်းမြတ်သည် ဝေနေယျသတ္တဝါအားလုံးတို့အဘို့ လောကီ၊ လောကုတ္တရာရေးရာ အဖြာဖြာသော ပြဿနာများကို ဖြေရှင်းရန်အလို့ငှာ ထုတ်ပြန်ပို့ချတော်မူသော ဓမ္မပြဒေသ ပြည့်ဝစုံလင်လှသော ကျမ်းဂန်ဓမ္မက္ခန် ဖြစ်တော်မူပေရာ ထိုကျမ်းဂန်တွင် "အီမာန်" ယုံကြည်ခြင်း သဒ္ဓါတရားများနှင့်တကွ နေရေး၊ ထိုင်ရေး၊ စားရေးသောက်ရေး၊ ပညာရေး၊ စီးပွားရေး၊ ပေါင်းသင်း ဆက်ဆံရေး၊ နိုင်ငံရေး၊ ချစ်ကြည်ရေး၊ ကျန်းမာရေး၊ ကိုယ်လက်စင်ကြယ်ရေး . . . စသည်တို့ကို တိကျစွာ ရှင်းပြထားသည်။

"မိန်းမ ယောကျာ်း လူ့စကားကို မကြားစကောင်း မဆိုကောင်းလည်း အကြောင်းဆိုင် တွေးဆိုတုံသေး၏ ဆိုရေးရှိက ဆိုအပ်လှ၏" ဟု ဆိုဘိသကဲ့သို့ လူ့သဘာဝအလျောက် လူသားတို့ မကင်းနိုင်သော အိမ်တွင်းရေးများကိုသော်မှပင် ဥပစာ အမျိုးမျိုးတို့ဖြင့် အလွန်ယဉ်ကျေး သိမ်မွေ့စွာ ဖွင့်ဟမိန့်ဆိုထားပေသည်။

သို့ပြည့်ဝစုံလင်စွာ ဖွင့်ဟ မိန့်ဆိုထားသည်နှင့်အညီ ကုရ်အာန်ကျမ်းမြတ်(၂း၂၂၂-၂၂၃)တွင် ➤➤

နِسَآؤُكُمْ حَرْثٌ لَّكُمْ فَأْتُوا۟ حَرْثَكُمْ أَنَّىٰ شِئْتُمْ ۖ وَقَدِّمُوا۟ لِأَنفُسِكُمْ ۚ وَٱتَّقُوا۟ ٱللَّهَ وَٱعْلَمُوٓا۟ أَنَّكُم مُّلَٰقُوهُ ۗ

၂၂၃။ အသင်တို့၏ ဇနီးမိန်းမများသည် အသင်တို့အတွက် *လယ်ယာမြေ(ပမာပင်)* [၁] ဖြစ်ပေရာ အသင်တို့သည် မိမိတို့လယ်ယာများသို့ မိမိတို့ *ကြိုက်နှစ်သက်ရာနည်းနှင့်* [၂] သွားလာ (စိုက်ပျိုး) ကြကုန်။ ထို့ပြင် အသင်တို့သည် (နောင်ရေးကို ရှေ့ရှုကာ) မိမိတို့ အကျိုးအလို့ငှာ (ကောင်းမှု ကုသိုလ်များကို) *တင်ကြို၍ ပို့ဆောင်(ပြုလုပ်)ကြကုန်။* [၃]

➤➤ ရာသီပန်းပွင့်သည့်အချိန်တွင် ဇနီးမိန်းမများနှင့် ကာယသံသဂ္ဂ မပြုရမည့်အကြောင်းကို ဖွင့်ဟမိန့်ဆိုထားတော်မူသည်ကို တွေ့ရှိရပေသည်။

အစ္စလာမ်သာသနာ မထွန်းကားမီ အမိုက်ခေတ်တွင် ရာသီပန်းပွင့်လျက်ရှိသော ဇနီးမိန်းမများနှင့် ကာယသံသဂ္ဂ ပြုခြင်းအကြောင်းနှင့် စပ်လျဉ်း၍ ခရစ်ယာန် ဘာသာဝင်များနှင့် ယဟူဒီ ဘာသာဝင်တို့သည် အလွန်အယူသည်းလျက် ရှိကြကုန်၏။

ခရစ်ယာန်ဘာသာဝင်တို့သည် ရာသီပန်းပွင့်သည်ကိုပင် အလေးဂရု အရေးမပြုဘဲ ရာသီပန်းပွင့်လျက်ရှိသော ဇနီးမိန်းမများနှင့် ကာယသံသဂ္ဂအမှုကို ပြုလုပ်လိုက်စား မိုက်မှားလျက်ရှိကြကုန်၏။ ယဟူဒီဘာသာဝင်တို့ကမူ ရာသီပန်းပွင့်သည်ကိုပင် အညစ်အယုတ် အပြစ်ကြီးတစ်ခုလုပ်၍ ရာသီပန်းပွင့်လျက်ရှိသော ဇနီးမိန်းမများကို ညစ်ညမ်းယုတ်မာသော သတ္တဝါများပမာ ကြဉ်ဖယ်ရှောင်ရှားကြကုန်၏။

**ခမ္မသတ်။**

ရာသီပန်းပွင့်ခြင်း၏ အချိန်ပိုင်းသည် အများဆုံး ၁၀-ရက်နှင့် ၁၀-ညဥ့်ဖြစ်၍ အနည်းဆုံး ၃-ရက် ၃-ညဥ့်ဖြစ်ပေသည်။ ရာသီသွေးဆင်းလျက်ရှိသော အမျိုးသမီးတို့၌ "ဆွလာတ်" ဝတ်ပြုရန် တာဝန်မရှိချေ။ သန့်ရှင်းသွားသောအခါ၌လည်း မိမိတို့မပြုခဲ့သော "ဆွလာတ်" ဝတ်ပြုမှုများကို ပြန်လည်ဖြည့်ရန် မလိုချေ။ ထို့အတူ ရာသီသွေးဆင်းလျက်ရှိသော အမျိုးသမီးများအတွက် "ဆွိယာမ်" ဥပုသ်ဆောက်တည်ပိုင်ခွင့် မရှိချေ၊ သို့ရာတွင် သန့်ရှင်းစင်ကြယ် သွားသောအခါ၌မူ ဆောက်တည်ရန်တာဝန်ရှိခဲ့သော "ဆွိယာမ်"ဥပုသ်များကို ပြန်လည်ဆောက်တည်ကြရပေမည်။

ရာသီသွေးဆင်းလျက် ရှိသော အမျိုးသမီးတို့အတွက် "မတ်စ်ဂျိဒ်" ဗလီကျောင်းများတွင် ဝင်ထွက်သွားလာခြင်း၊ "ဗိုင်တုလ္လာဟ်" ခေါ် အလ္လာဟ်အရှင်မြတ်၏ အိမ်တော်ကို "တွာဝါဖ်" ရစ်ပတ်ဖူးမျှော်ခြင်း၊ ကာယသံသဂ္ဂအမှုပြုခြင်း၊ ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဘတ် သရဇ္ဈာယ်ခြင်း၊ ကုရ်အာန်ကျမ်းမြတ်ကို တစ်စုံတစ်ခု ကိုင်တွယ်စရာမပါဘဲ ကိုင်တွယ်ခြင်းတို့သည် မပြုပိုင်ချေ။ ကြည့်-(ဟိဒါယတ်ကျမ်း)။

**(၁) ထုတ်ပြန်ပို့ချတော်မူခြင်း၊**

ဇနီးမိန်းမနှင့် နောက်ကျောဘက်မှ ကာယသံသဂ္ဂအမှုပြုလျှင် မွေးဖွားလာသော ကလေးသည် မျက်စိအစွေ မွေးဖွားသည်ဟု ယဟူဒီများက ပြောဆိုကြ၏။ ထိုအခါ ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော် (၂:၂၂၃)သည် ကျရောက်လာလေသည်။ (အီဗ်နုကဆီရ်)။

လယ်ယာကိုင်းကျွန်းသည် ပြည်သူလူထုတစ်ရပ်လုံး၏ အသက်သွေးကြောပင်ဖြစ်၏။ ➤➤

➤➤ တောင်သူ လယ်သမားတို့သည် မိမိတို့၏ လယ်မြေများကို အသက်တမျှ မြတ်နိုးကြ၏၊ တောင်သူ လယ်သမားတို့၏ အဓိကလိုလားချက်သည် မိမိတို့ လယ်ယာကိုင်းကျွန်းမှ ထွက်သော ကောက်ပဲ သီးနှံများပင်ဖြစ်၏။ ထို့အတွက်ကြောင့်ပင် တောင်သူလယ်သမားတို့သည် မိမိတို့လိုလားသော အသီးအနှံများ ရနိုင်ရန်အလို့ငှာ စိုက်ပျိုးအပ်သော လယ်ယာများကို ရွေးချယ်၍ ဥတုရာသီအားလျော်စွာ စနစ်တကျ ထွန်ယက်စိုက်ပျိုးကြ၏။ တောင်သူလယ်သမားတို့သည် မိမိတို့၏လယ်ယာများတွင် အောင်အောင်မြင်မြင် ပြည့်ပြည့်ဝဝ စိမ်းလမ်းစိုပြေသော ကောက်ပဲသီးနှံတို့ကို တွေ့မြင်သောအခါ ကြည်နူးရွှင်လန်းကြ၏။

ထိုနည်းတူစွာ ဥပမာအတိုင်းပင် အမျိုးသမီးတို့သည် ကမ္ဘာ့အိမ်ထောင်စုသားတို့၏ တည်တံ့ရေးတွင် အရေးကြီးဆုံးသော အဓိက အကြောင်းတစ်ရပ်ပင်ဖြစ်ပေသည်။ ဇနီးမိန်းမတို့သည် လယ်ယာမြေနှင့် တူကြပေသည်၊ လင်ယောကျ်ားတို့သည် တောင်သူလယ်သမားများနှင့် တူကြပေသည်၊ လင်ယောကျ်ားတို့သည် ဇနီးမိန်းမများကို အသက်တမျှမြတ်နိုးကြပေသည်။

တောင်သူ လယ်သမားတို့၏ အဓိက လိုလားချက်သည် လယ်ယာ ကိုင်းကျွန်းမှ ထွက်သော အသီးအနှံများဖြစ်သကဲ့သို့ လင်ယောကျ်ားတို့၏ အဓိကလိုလားချက်သည်လည်း ဇနီးမိန်းမတို့မှ ထွန်းကားပေါက်ပွားသော သားသမီးများပင် ဖြစ်ကြပေသည်။ ထို့အတွက်ကြောင့်ပင် လင်ယောကျ်ားတို့သည် အချိန်အခါအားလျော်စွာ သဘာဝဓမ္မနှင့်အညီ စနစ်တကျ ဇနီးမိန်းမများနှင့် ကာယသံသဂ္ဂအမှု ပြုကြသည်၊ မိဘတို့သည် မိမိတို့၏ ရင်နှစ်သည်းချာ သားသမီးရတနာများကို ကျန်းမာဝဖြိုးစွာ ရှုမြင်ရသောအခါ ဖရဏာပီတိ ဂွမ်းဆီထိဘိသကဲ့သို့ ပီတိသောမနဿ ဝမ်းမြောက်ခြင်းကြီးမက ဝမ်းမြောက်ကြပေသည်။

"လယ်ယာကောင်းကောင်း၊ မျိုးကောင်းကောင်း၌ တစလောင်းနှင့် တစ်သောင်းထွက်" ဆိုဘိသကဲ့သို့ သီးနှံကောင်းစွာ ထွက်ရှိရေးသည် လယ်မြေ၏ကောင်းခြင်း၊ ဥတုရာသီ၏ကောင်းခြင်း၊ နေရာတကျ ထွန်ယက်စိုက်ပျိုးခြင်း၊ မျိုးစေ့၏ကောင်းခြင်းတို့၏အပေါ်တွင် တည်နေပေသည်။

ထို့အတူပင် သားကောင်းသမီးကောင်းတို့၏ ထွန်းကားရေးသည်လည်း အမိအဘနှစ်ပါးလုံးပင် ကျန်းမာရေးနှင့် ပြည့်စုံခြင်း၊ သဘာဝဓမ္မနှင့်အညီ အချိန်အခါ အားလျော်စွာ ပေါင်းသင်းဆက်ဆံခြင်းတို့ အပေါ်ဝယ် တည်ရှိနေပေသည်။ ဤကား ကုရ်အာန်ကျမ်းတော်လာ "အသင်တို့၏ ဇနီးမိန်းမများသည် အသင်တို့၏ လယ်ယာမြေဖြစ်သည်" ဟူသောမုက္ခပါဌ်တော်၏ အဖွင့်သဘောတည်း။

ချစ်ခင်ရင်းနှီးစွာပေါင်းသင်း ဆက်ဆံနေထိုင်ရန်အလို့ငှာ အမျိုးသမီးများကိုဖန်ဆင်းပေးတော်မူခြင်းသည် အလ္လာဟ်အရှင်မြတ်၏ ကြီးမားလှသော ကျေးဇူးတော်တစ်ရပ်ပင် ဖြစ်ပေသည်။ ကြည့်-ကုရ်အာန် (၇:၁၈၉၊ ၃၀:၂၁)။ သားမယားကိုစွန့်ပြီး တောထွက်ခြင်းသည် အစ္စလာမ်၏ လမ်းစဉ်မဟုတ်၊ ကြည့်-ကုရ်အာန်(၅၇:၂၇)။ အလ္လာဟ်အရှင်မြတ်က လူသားတို့အား သားဆုပန်ရန် မိန့်ကြားထားတော်မူ၏။ ကြည့်-ကုရ်အာန် (၂၅:၇၄)။

ထိမ်းမြားခြင်းနှင့် စပ်လျဉ်း၍ နဗီတမန်တော် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) ကလည်း အောက်ပါအတိုင်း မိန့်ကြားတော်မူခဲ့၏။

ထိမ်းမြားခြင်းသည် ငါ၏လမ်းစဉ်ဖြစ်၏။ ငါ၏လမ်းစဉ်ကို မလိုက်နာမကျင့်သုံးသော
သူသည် ငါ၏အသင်းဝင်မဟုတ်ချေ။ (အီဗ်နုမာဂျဟ်)

(၂) "အန္နာ" ဟူသောစကားသည် "အဘယ်ကဲ့သို့"၊ "အဘယ်မှာ" ဟူသောအနက်ကိုဟောသည်။ ကြည့်-ရာဃိဗ်။ ထို့အတူ "အဘယ်အခါ" ဟူသောအနက်ကိုလည်းဟောသည်။ကြည့်-(အီဗ်နုဂျရီရ်)။(ဗဟိရ်)။(ကဗီရ်)။

လယ်ယာမြေသို့ သွားလာခြင်းဟူသည် ဇနီးမိန်းမများနှင့် ကာယသံသဂ္ဂအမှုပြုခြင်းကို ➤➤

وَبَشِّرِ الْمُؤْمِنِيْنَ ﴿٢٢٣﴾

ထို့ပြင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကို ကြောက်ရွံ့ကြကုန်။ [1] ထို့ပြင် အသင်တို့သည် ထို အရှင်မြတ်၏ရှေ့တော်မှောက်သို့ မုချ ဝင်ရောက်ကြရမည့်သူများဖြစ်သည်ကိုလည်း မှတ်ယူကြကုန်၊[2] ထို့ပြင်(အို-နဗီ) အသင်သည် ယုံကြည်ခြင်းသဒ္ဓါတရားနှင့်ပြည့်စုံသော "မုအ်မင်န်" တို့အား ဝမ်းမြောက်ဘွယ်ရာသတင်းကို ပြောကြားပါလေ။ [3]

---

➤➤ ဥပမာ တင်စား၍ မိန့်ဆိုထားခြင်းပင်ဖြစ်သည်။ အစ္စလာမ်သာသနာတွင် ကာယသံသဂ္ဂအမှုပြုခြင်း၏ အဓိကရည်ရွယ်ချက်သည် သားသမီးထွန်းကားရန်ပင်ဖြစ်သည်။ သို့ရာတွင် လူ့သဘာဝအလျောက် ကာမဂုဏ်ခံစားမှုကိုလည်း လျစ်လျူရှုထားသည်မဟုတ်ပေ။

တဖ်စီရ်အဌကထာကျမ်းအစောင်စောင်တွင် ဖော်ပြပါရှိသည့်အတိုင်း ယဟူဒီဘာသာဝင်တို့သည် ကာယသံသဂ္ဂအမှု ပြုခြင်းနှင့်စပ်လျဉ်း၍ အမှားမှားအယွင်းယွင်း ထင်မှတ်ပြောဆိုကြ၏။ ယင်းသူတို့၏ မှားယွင်းသော ယူဆချက်ကို ကုရ်အာန်ကျမ်းမြတ်(၂း၂၂၃)တွင် မိန့်ဆိုထားတော်မူသည်။

တရားတော်နှင့်အညီ အခါကာလကို ထောက်ထား၍ အာသာဆန္ဒအလျောက် ယဉ်ကျေးသိမ်မွေ့စွာ ကာသံသဂ္ဂအမှုပြုသည်ကို အစ္စလာမ်သာသနာသည် ခွင့်ပြုထားလေသည်။

(၃) အစ္စလာမ်သာသနာတွင် ကာယသံသဂ္ဂပြုခြင်းကို ခွင့်ပြုထားသော်လည်း လူသားတို့သည် မိမိတာဝန်ဝတ္တရားများကို မည်သည့်အချိန်၌မျှ မမေ့အပ်ကြပေ။

ကာမဂုဏ် အာရုံခံစားမှုများတွင် လုံးလုံးလျားလျား နစ်မွန်း၍ မနေအပ်ကြပေ။ နောင်ရေးအတွက် ကုသိုလ်တရား များပွါးများရပေမည်။

အချို့အဌကထာကျမ်းများတွင် ( وَقَدِّمُوْا لِاَنْفُسِكُمْ ) ဟူသော မုက္ခပါဌ်တော်၏ အနက်ကို သားဆုပန်ကြဟူ၍၎င်း၊ ကာယသံသဂ္ဂအမှုပြုရာတွင် အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကို တသကြဟူ၍၎င်း၊ အသီးသီးဖွင့်ဆိုကြသည်။

(၁) လူသားတို့သည် မိမိတို့ ဘဝလမ်းစဉ်၌ ကိစ္စအဝဝတွင် အဿာသ ပဿာသ ထွက်သက်ဝင်သက်နှင့်အမျှ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားရပေမည်။

(၂) "ငါတို့သည် တနေ့သော် အလ္လာဟ်အရှင်မြတ်၏ရှေ့တော်မှောက်သို့ မုချ ဝင်ရောက်ကြရမည်"ဟူသော ယုံကြည်ချက်ကို အမြဲတစေ နှလုံးသွင်းပါမူ လူသားတို့သည် ကျင့်ရန် ကြဉ်ရန်တရားများကို လိုက်နာရာတွင် အခက်အခဲ တွေ့ရှိကြမည်မဟုတ်ပေ။

(၃) ကုရ်အာန်ကျမ်းမြတ်(၂း၂၂၃)တွင် ဖော်ပြပါရှိသည့်အတိုင်း ဇနီးမိန်းမများနှင့် ကောင်းစွာ ပေါင်းသင်းဆက်ဆံသော၊ ကုသိုလ်တရားပွားများသော၊ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ခန့်ညားသော၊ တနေ့သော် အလ္လာဟ်အရှင်မြတ်၏ရှေ့တော်မှောက်သို့ ဝင်ရောက်ကြရမည်ကို ယုံကြည်သော၊ "မုအ်မင်န်" သူတော်စင်တို့အား မင်္ဂလာသတင်းစကားကို ပြောကြားရမည်ဟု မိန့်ကြားထားတော်မူလေသည်။

وَلَا تَجْعَلُوا اللّٰهَ عُرْضَةً لِّاَيْمَانِكُمْ اَنْ تَبَرُّوْا وَتَتَّقُوْا وَتُصْلِحُوْا بَيْنَ النَّاسِ ؕ وَاللّٰهُ سَمِيْعٌ عَلِيْمٌ ﴿٢٢٤﴾

၂၂၄။ ထို့ပြင်·အသင်တို့သည် ကုသိုလ်ကောင်းမှုများကို မပြုကြရန်၎င်း၊ ဒုစရိုက်မှုများကို မကြဥ်ရှောင်ကြရန်၎င်း၊ လူသားတို့စပ်ကြားတွင် ခိုက်ရန်ဖြစ်ပွားမှုများကိုမဖြန်ဖြေကြရန်၎င်း၊ မိမိတို့၏ကျိန်ဆိုချက်များဖြင့် အလ္လာဟ်အရှင်မြတ်အား ဒိုင်းကြီးသဖွယ် *အကာအကွယ်* [1] မပြုလုပ်ကြကုန်လင့်။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အကြွင်းမဲ့ ကြားတော်မူသောအရှင်၊ အကြွင်းမဲ့ သိတော်မူသော အရှင်၊ ဖြစ်တော်မူပေသတည်း။

---

(၁) **ထုတ်ပြန်ပို့ချတော်မူခြင်း။**

သာဝကကြီး အဗူဗတ်က်ရ်၏သမီး၊ နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ ကြင်ရာတော် အာအိရှာသခင်မအား မွတ်စ်လင်မ်အသွင်ဆောင် "မုနာဖိက်" တို့က မလိုမုန်းထား၍ မဟုတ်မတရား စွပ်စွဲပြောဆိုရာတွင် သာဝကကြီး အဗူဗတ်က်ရ်၏ အိမ်နေတပည့်တစ်ဦးဖြစ်သူ "မစ်တွဟ်" သည်လည်း အဖြစ်မှန်ကို မစူးစမ်းမဆင်ခြင်ဘဲ "မုနာဖိတ်" တို့၏ သံယောင်လိုက်၍ စွပ်စွဲပြောဆိုခဲ့ပေရာ သာဝကကြီး "အဗူဗတ်က်ရ်"က ငါသည် မစ်တွဟ်အား လှူဒါန်းပေးကမ်းခြင်း ပြုမည် မဟုတ်ပါဟူ၍ ကျိန်ဆိုလေသည်။ ထိုအခါ ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော် (၂း၂၂၄)သည် ကျရောက်လာလေသည်။

အခြားအဆိုတစ်ရပ်ရှိသည်မှာ သာဝကကြီး အဗ်ဒုလ္လာဟ် အီဗ်နုရဝါဟတ်က မိမိ၏ယောက်ဖဖြစ်သူ ဗရှီရ်အီဗ်န နုအ်မာန်နှင့် ငါသည် စကားပြောမည်မဟုတ်ပါဟူ၍၎င်း၊ ငါသည် မိမိ၏ယောက်ဖနှင့် နှမတို့စပ်ကြားတွင် ဝင်ရောက်ဖြန်ဖြေမည်မဟုတ်ပါ ဟူ၍၎င်း ကျိန်ဆိုလေသည်။ ထိုအခါ ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော်(၂း၂၂၄)သည် ကျရောက်လာလေသည်။

အစ္စလာမ်သာသနာ မထွန်းကားမီ "ဂျာဟိလီယတ်" အမိုက်ခေတ်တွင် အရဗ်တို့၏ ထုံးတမ်းစဉ်လာများအနက် ကောင်းမှုကုသိုလ် မပြုလိုသောအခါ ငါတို့သည် ထိုထိုဤဤ ကောင်းမှုများကို ပြုလုပ်ကြမည်မဟုတ်ပါဟူ၍ အလ္လာဟ်အရှင်မြတ်ကို တိုင်တည်ပြီး သစ္စာဆိုလေ့ရှိကြသည်၊

သို့ကျိန်ဆိုထားသူတစ်ဦးအား အခြားတစ်ယောက်က အသင်သည် ဤကုသိုလ်ကောင်းမှုကို အဘယ်ကြောင့်မပြုပါသနည်းဟု ပြောဆိုသည့်အခါ ထိုသူက ကျွန်ုပ်သည် ထိုကောင်းမှုမပြုပါဟု အလ္လာဟ်အရှင်မြတ်ကို တိုင်တည် သစ္စာဆိုပြီးဖြစ်ကြောင်း ပြန်လည်ဖြေကြားလေသည်။ ဤမုက္ခပါဌ်တော်သည် ထိုသို့ပြောဆိုသူများနှင့်ပတ်သက်၍ ကျရောက်လာခဲ့ပေသည်။

ကုသိုလ်ကောင်းမှုများကို ပြုလုပ်နိုင်ပါလျက် မပြုဘဲနေခြင်းသည် မည်သည့်နည်းနှင့်မျှ ကောင်းမွန်သော ကိစ္စတစ်ရပ်မဖြစ်နိုင်ပေ။

အလ္လာဟ် အရှင်မြတ်သည် အခါကာလမရွေး လူသားတို့အား ကုသိုလ်တရား ပွားများစေရန် အမျိုးမျိုး အဖုံဖုံ အကြိမ်ကြိမ် အဖန်ဖန် တိုက်တွန်း နှိုးဆော်သော အရှင် ဖြစ်တော် မူပေရကား ➢➢

➤➤ ထိုအရှင်မြတ်ကိုပင် တိုင်တည်၍ ကုသိုလ်ကောင်းမှုများ မပြုလုပ်ပါဟု ကျိန်ဆိုခြင်းသည် အဘယ်မှာလျှင် လျော်ကန် သင့်မြတ်နိုင်ပါအံ့နည်း။

ဤကား အလ္လာဟ်အရှင်မြတ်၏ နာမ်တော်ကို အလွဲသုံးစားပြုခြင်းပင် ဖြစ်ပေသည်။ ဤသို့ အလ္လာဟ်အရှင်မြတ်၏နာမ်တော်ကို အလွဲသုံးစားမပြုရမည့်အကြောင်း ကုရ်အာန်ကျမ်းမြတ် (၂:၂၂၄)တွင် အတည့်အလင်း မိန့်ဆိုထားတော်မူသည်။

အရာရာတွင် အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ ကျိန်ဆိုခြင်းသည် အလ္လာအရှင်မြတ်အား မရိုမသေ မလေးမစား မခန့်ညားရာရောက်ပေသည်။

အလ္လာဟ်အရှင်မြတ်ကိုတိုင်တည်၍ အကြောင်းမဲ့ကျိန်ဆိုခြင်းများကိုလည်း "ဖုကဟာ" အစ္စလာမ် ဓမ္မသတ်ရှင်တို့သည် မနှစ်ခြိုက်ကြပေ။

ဥစ္စာဓန ကုံလုံကြွယ်ဝသောသူတို့သည် ဆွေမျိုးသားချင်းတို့နှင့် ဆင်းရဲသူ ဆင်းရဲသားတို့အား မပေးမကမ်းပါဟု ကျိန်ဆို၍ စွန့်လွှတ်မထားသင့်ကြောင်း ကုရ်အာန်ကျမ်း(၂၄:၂၂)တွင် မိန့်ဆိုထားတော်မူလေသည်။

"အုရ်သွဟ်" ဟူသောစကားသည်

(၁) အကာအကွယ်၊ အတားအဆီး၊ ဒိုင်း။

(၂) ဖော်ပြရန်ပစ္စည်း၊ တင်ပြရန်အကြောင်းတရား . . . ၏ အနက်ကိုဟောသည်။ ဖော်ပြပါအနက် နှစ်ရပ်အနက် ပဌမအနက်ကိုရှေ့ရှု၍ ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော် (၂:၂၂၄)ကို ဘာသာပြန်ဆိုရေးသားခဲ့ပေပြီ။

"အုရ်သွဟ်" ဟူသောစကား၏ အဓိပ္ပါယ်နှစ်ရပ်အနက် ဒုတိယအဓိပ္ပါယ်အရ ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော် (၂:၂၂၄)၏ အနက်သဘောမှာ "အသင်တို့သည် ကုသိုလ်တရား ပွားများကြရန် အလို့ငှာ အလ္လာဟ်အရှင်မြတ်၏ နာမ်တော်ကို ဖော်ပြရန် အကြောင်းတရားအနေဖြင့် မပြုလုပ်ကြကုန်လင့်။

ဆိုလိုသည်မှာ အသင်တို့သည် ကုသိုလ်ကောင်းမှု မပြုကြရန်အတွက် အလ္လာဟ်အရှင်မြတ်၏ နာမ်တော်ကို ကျိန်ဆိုခြင်း မပြုလုပ်ကြကုန်လင့်ဟူလို။

အလ္လာဟ်အရှင်အား တိုင်တည်၍ အကြောင်းမဲ့များစွာ ကျိန်ဆိုသူတစ်ဦးသည် ထိုအရှင်အား အတင့်ရဲ၍ မရိုသေ မလေးစားရာ ရောက်ပေသည်။ အတင့်ရဲ၍ မရိုသေသောသူတစ်ဦးသည် ထိုအရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားသောသူလည်း မဖြစ်နိုင်။

ဤသို့ ကျိန်ဆိုလေ့ရှိသောသူသည် မည်သည့်ကိစ္စတွင်မျှ ယုံကြည်စိတ်ချစရာ အကြောင်းလည်းမရှိပေ။ သို့အတွက်ကြောင့်ပင် ကုရ်အာန်ကျမ်းမြတ် (၆၈:၁၀)တွင် များစွာကျိန်ဆိုသူ၏စကားကို မလိုက်နာရန် ပိတ်ပင်မြစ်တားထားတော်မူသည်။

အကြင်သူတစ်ဦးသည် (ကိစ္စတစ်ရပ်ကိုပြုလုပ်ရန်) ကျိန်ဆို၏။ သို့ကျိန်ဆိုပြီးနောက်တွင် ထိုသူသည် ထိုကိစ္စထက် အခြားကိစ္စတစ်ရပ်ကို ပိုမိုကောင်းမြတ်သည်ဟု ထင်မြင်ယူဆမိ၏။

သို့ဖြစ်လျှင် ထိုသူသည် မိမိကျိန်ဆိုခြင်းနှင့်စပ်လျဉ်း၍ "ကဖ္ဖာရဟ်" အာပတ်ဖြေပြီး ပိုမိုကောင်းမြတ်သော ထိုကိစ္စကိုပင်ပြုလုပ်ရမည်ဟု နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)က မိန့်ကြားတော်မူခဲ့သည်။ (ခါဇင်န်)။

لَا يُؤَاخِذُكُمُ اللّٰهُ بِاللَّغْوِ فِيْٓ اَيْمَانِكُمْ وَلٰكِنْ يُّؤَاخِذُكُمْ بِمَا كَسَبَتْ قُلُوْبُكُمْ ۗ وَاللّٰهُ غَفُوْرٌ حَلِيْمٌ ﴿٢٢٥﴾

၂၂၅။ အလ္လာဟ် အရှင်မြတ်သည် အသင်တို့၏ အချည်းနှီးသော *ကျိန်ဆိုချက်များနှင့်စပ်လျဉ်း၍* [၁] အသင်တို့ကို ပြစ်ဒဏ်ပေးတော်မူမည်မဟုတ်။ သို့ရာတွင် အသင်တို့၏စိတ်နှလုံးများက စေ့ဆော်တိုက်တွန်း၍ ကျိန်ဆိုသော ကျိန်ဆိုချက်များနှင့် စပ်လျဉ်း၍မူ ထိုအရှင်မြတ်သည် အသင်တို့ကို ပြစ်ဒဏ်ပေးတော်မူပေမည်။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ် သည် အကြိမ်ကြိမ် လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ အလွန် ထောက်ထားညှာတာတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

لِلَّذِيْنَ يُؤْلُوْنَ مِنْ نِّسَآئِهِمْ تَرَبُّصُ اَرْبَعَةِ اَشْهُرٍ ۚ فَاِنْ فَآءُوْ فَاِنَّ اللّٰهَ غَفُوْرٌ رَّحِيْمٌ ﴿٢٢٦﴾

၂၂၆။ မိမိတို့၏ဇနီးမိန်းမများနှင့် (ကာယ သံသဂ္ဂ အမှုပြုကြမည်မဟုတ်ပါဟု) *ကျိန်ဆိုသူများ* [၂] အတို့ လေးလစောင့်ဆိုင်းခွင့်ရှိ၏။ အကယ်၍ ထိုသူတို့သည် (ထိုကဲ့သို့) ကျိန်ဆိုပြီးနောက် (၄-လအတွင်း မိမိတို့၏ ကျိန်ဆိုချက်ကို) ပြန်လည်ရုပ်သိမ်းကြပါလျှင် မုချကေန် အလ္လာဟ် အရှင်မြတ်သည် အလွန် လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ အလွန် ကရုဏာပြုတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

---

(၁) "လဃ်ဝ်" ဟူသည် မိမိ၏မှားယွင်းသောထင်မြင်ယူဆချက်အပေါ်တွင် မူတည်၍ ကျိန်ဆိုခြင်းကိုဆိုလိုသည်ဟူ၍ အေ့မာမ် အဗူဟာနီဖဟ်သခင် မိန့်ကြားခဲ့သည်။ ဆိုလိုရင်း အနက်ကား အသင်တို့ (လိမ်လည်လိုသော စေတနာမပါဘဲ) မေ့မှား၍ကျိန်ဆိုမိသော ကျိန်ဆိုချက်များနှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်သည် အသင်တို့ကို ပြစ်ဒဏ်ပေးတော်မူမည်မဟုတ်၊ သို့ရာတွင် အသင်တို့ လိမ်လည်ရန်ရည်စူး၍ ကျိန်ဆိုသောကျိန်ဆိုချက်များနှင့် စပ်လျဉ်း၍မူကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ကို ပြစ်ဒဏ်ပေးတော်မူလိမ့်မည်။

(၂) အစ္စလာမ်သာသနာမထွန်းကားမီ "ဂျာဟိလီယတ်" အမိုက်ခေတ်တွင် အရဗ်လူမျိုးတို့သည် မိမိတို့၏ ဇနီးမိန်းမများနှင့်စပ်လျဉ်း၍ အမျက်ဒေါသထွက်သောအခါ "ငါတို့သည်မိမိတို့၏ဇနီးမိန်းမများနှင့် ကာယသံသဂ္ဂအမှုပြုကြမည်မဟုတ်ပါ" ဟူ၍ ကျိန်ဆိုလေ့ရှိကြ၏၊ သို့ကျိန်ဆိုခြင်းကို "အီလာ"ဟူ၍ ခေါ်ဆိုကြသည်။

အရဗ်လူမျိုးတို့သည် "အီလာ" ပြုခြင်းကို "တွလာက်" လင်ခန်းမယားခန်းပြတ်စဲခြင်းဟု ယူဆကြ၏၊ သို့ယူဆကြသည့်အတိုင်း ယင်းသူတို့သည် "အီလာ"ပြုပြီးသည့်နောက်တွင် မိမိတို့၏ဇနီးမိန်းမများအား ➢➢

وَإِنْ عَزَمُوا الطَّلَاقَ فَإِنَّ اللَّهَ سَمِيعٌ عَلِيمٌ ﴿٢٢٧﴾

၂၂၇။ ထို့ပြင် အကယ်၍သာ ယင်းသူတို့သည်၊ ကွာရှင်းခြင်းကိုသာ စိတ်ပိုင်းဖြတ်ကြပါလျှင် ဧကန်မုချ အလ္လာဟ် အရှင်မြတ်သည် (ထိုသူတို့၏ ကျိန်ဆိုချက်တို့ကိုလည်း) အကြွင်းမရှိသိတော်မူသော အရှင်၊ (ထိုသူတို့၏ စိတ်ပြဋ္ဌာန်းချက်များကိုလည်း) အကြွင်းမရှိ သိတော်မူသောအရှင် ဖြစ်တော် မူလေသတည်း။

وَالْمُطَلَّقَٰتُ يَتَرَبَّصْنَ بِأَنفُسِهِنَّ ثَلَٰثَةَ قُرُوٓءٍ

၂၂၈။ ထို့ပြင် ကွာရှင်းခြင်းခံရသော ဇနီးမိန်းမများသည် ရာသီပန်းသုံးကြိမ် ပွင့်သည့်တိုင်အောင် ၁ (အိမ်ထောင်သစ်ပြုခြင်းမှ) မိမိတို့ကိုယ်ကို ဆိုင်းငံ့ထားကြရမည်။

>> စားစရိတ်နှင့်တကွ အခြားပေးအပ်ရမည့် အခွင့်အလမ်းများကို ရပ်စဲလိုက်ကြ၏။

"အီလာ" နှင့်စပ်လျဉ်း၍ အရဗ်လူမျိုးတို့၏ အယူအဆ အပြုအမူများသည် မှားယွင်းလျက်ရှိကြောင်း၊ အစ္စလာမ်သာသနာတွင် "အီလာ"သည် လင်ခန်းမယားခန်းပြတ်စဲခြင်း၏ အဓိပ္ပါယ်သို့ မသက်ရောက်ကြောင်း၊ "အီလာ" သည် လင်ခန်းမယားခန်းပြတ်စဲရန် လမ်းကြောင်း နိဒါန်းစကားမျှဖြစ်ကြောင်း၊ သို့နိဒါန်းစကားမျှဖြစ်ပေရာ "အီလာ" ပြုမိသော လင်ယောကျ်ားတို့သည် မိမိတို့၏ "အီလာ" နှင့်စပ်လျဉ်း၍ အေးအေးဆေးဆေး ရှေ့နောက်ပြန်လည် စဉ်းစားနိုင်ရန်အတွက် ၄-လ ခွင့်ပြုထားကြောင်း၊ ထိုအတောအတွင်း လင်ယောကျ်ားတို့သည် မိမိတို့၏ဇနီးမိန်းမများနှင့် အကြင်လင်မယားအဖြစ် ဆက်လက်ပေါင်းသင်းလိုက ပေါင်းသင်းနိုင်ကြောင်း၊ လင်ခန်းမယားခန်း ပြတ်စဲလိုကလည်း ပြတ်စဲနိုင်ကြောင်းများကို ထင်ရှားသိသာစေရန်အလို့ငှာ အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းလာ မုက္ခပါဋ်တော်(၂း၂၂၆-၂၂၇)ကို ထုတ်ပြန်ပို့ချတော်မူလေသည်။ ကြည့်-(မာဂျီဒီ)။

"အီလာ" ဟူသည် အစ္စလာမ်သာသနာ မထွန်းကားမီ အမိုက်ခေတ်တွင် အရဗ်လူမျိုးတို့ မိမိတို့၏ဇနီးမယားများအား ဒုက္ခပေးခြင်းတစ်ရပ်ပင်ဖြစ်သည်။ လင်ယောကျ်ားများသည် အကယ်၍ မိမိတို့၏ဇနီးမိန်းမများကို ချစ်ခင်ကြင်နာကြသည်လည်းမရှိ၊ လင်ယူပိုင်ခွင့်လည်း မပေးလိုကြ၊ ထိုအခါမျိုးတွင် လင်ယောကျ်ားများသည် "အီလာ" (ဝါ) ငါတို့သည် မိမိတို့ ဇနီးမိန်းမများထံသို့ ချဉ်းကပ်ကြမည် မဟုတ်ပါဟု ကျိန်ဆိုပြီး ဇနီးမိန်းမတို့အား "လင်ရှိ မုဆိုးမ" သဘွယ် တွဲလဲထားလေ့ရှိကြ၏။ အရဗ်လူမျိုးတို့သည် အစ္စလာမ်သာသနာ ထွန်းကားခါစအချိန်တွင်လည်း ဖော်ပြပါအတိုင်း "အီလာ" လုပ်၍ ဇနီးမိန်းမတို့အား ဒုက္ခပေးလျက်ရှိကြကုန်၏။ ထိုအခါ ကုရ်အာန်ကျမ်းလာ မုက္ခပါဋ်တော် (၂း၂၂၆-၂၂၇)သည် ကျရောက်လာခဲ့လေသည်။ ဤကား စအီဒ်အီဗ်နုအလ် မုစိုင်ယိဗ်၏ အဆိုတည်း။ ကြည့်-(ခါဇင်န်)။

(၁) အရဗီဘာသာစာပေတွင် "ကရ်အန်"ဟူသောစကား၏မူရင်းအဓိပ္ပါယ်မှာ အချိန်ဟုဖြစ်သည်။(အီဗ်နုကုတိုင်ဗဟ်)။

"ကရ်အန်" ဟူသော စကားသည် အချိန်ဟူသော အနက်ပေးရာတွင် အဘိဓါန်ရှင်များ >>

➤➤ အဆို ညီကြပေသည်။

("ကရ်အန်" ၏ ဗဟုဝုစ်ကိန်းမှာ "အတ်က်ရာအ်" ဖြစ်သည်)။ "အတ်က်ရာအ်" ဟူသောစကားသည် အရဗီဘာသာစာပေတွင် ဆန့်ကျင်ဘက်အဓိပ္ပါယ် နှစ်မျိုးထွက်သောပုဒ်ဖြစ်သည်ဟု အဗူအုဗိုင်ဒဟ်သခင်က မိန့်ဆိုသည်။ (ကဗီရ်)။ "ကရ်အန်" ဟူသောစကားသည် ရာသီသွေးဆင်းချိန်နှင့် ရာသီသွေးဆင်းပြီး၍ သန့်ရှင်းနေသော အချိန်၏ အဓိပ္ပါယ်ကို ဆောင်သောစကားဖြစ်သည်။

ဖော်ပြပါအတိုင်း "ကရ်အန်" ဟူသော စကားသည် ဆန့်ကျင်ဘက် အဓိပ္ပါယ်ပေးသော စကားဖြစ်နေသည့် အလျောက် ကုရ်အာန်ကျမ်းတတ် ပါရဂူများသည် ထိုစကား၏ အနက်ဖွင့်ရာတွင် အဆိုပြားလျက်ရှိကြ၏။

အာအိရှဟ် သခင်မ၊ အေမာမ်ရှာဖိအီ သခင်နှင့် အချို့ပါရဂူတို့သည် "ကရ်အန်" ၏အနက်ကို ရာသီသွေးဆင်းပြီး ပြန်၍သန့်ရှင်းသော အချိန်ဟူ၍ ဖွင့်ဆိုကြသည်။ အဂ္ဂသာဝကကြီး အုမရ်၊ အလီ၊ အီဗ်နုအဗ္ဗါစ်၊ အီဗ်နုမတ်စ်အူဒ်၊ အဗူမူစာကဲ့သို့သော သာဝကကြီး ၁၃-ပါးသည် "ကရ်အန်" ၏အနက်ကို ရာသီသွေးဆင်းနေသောအချိန်ဟူ၍ ဖွင့်ဆိုကြသည်။ ဤနည်းအတိုင်းပင် အေမာမ်ဆောင်ရီ၊ အေမာမ်အောင်ဇာအီ၊ အေမာမ်အဗူဟနီဖဟ်နှင့်တကွ ဟနဖီဂိုဏ်း၏ အေမာမ်အားလုံးတို့သည်လည်း "ကရ်အန်" အနက်ကို ရာသီသွေးဆင်းနေသော အချိန်ဟူ၍ပင် ဖွင့်ဆိုကြသည်။

ကွာရှင်းခြင်းခံရသော အမျိုးသမီးများသည် ရာသီသွေးသုံးကြိမ် ဆင်းသည့်တိုင်အောင် စောင့်ဆိုင်း နေထိုင်ကြရ၏။ သို့စောင့်ဆိုင်းခြင်းကို "အစ်ဒ်ဒတ်" ဟုခေါ်သည်။ ကွာရှင်းခြင်းခံရသော အမျိုးသမီးများသည် "အစ်ဒ်ဒတ်" ရက်အတွင်း၌ အိမ်ထောင်သစ်မပြုနိုင်ကြချေ၊ "အစ်ဒ်ဒတ်" ကုန်ဆုံးပြီးမှ အိမ်ထောင်သစ်များ ပြုနိုင်ပေသည်။

လင်ယောကျ်ားတို့သည် ဇနီးမိန်းမတို့အား ကွာရှင်းလိုက ရာသီသွေးဆင်း၍ သန့်ရှင်းနေသော အချိန်တွင် ကွာရှင်းကြရ၏။ ဤသည် ကွာရှင်းရေးတွင် အတားအဆီးတစ်ခုပင်။ အကြောင်းသော်ကား ရာသီသွေးဆင်းလျက်ရှိသော ဇနီးမိန်းမတို့နှင့် လင်ယောကျ်ားတို့သည် ကာယသံသဂ္ဂအမှု မပြုနိုင်ကြပေရာ ထိုအချိန်တွင် ဇနီးမောင်နှံတို့သည် အနည်းငယ် ကင်းကွာလျက်ရှိကြ၏။ ရာသီသွေးဆင်းပြီး၍ သန့်ရှင်း နေသောအချိန်တွင် ဇနီးမောင်နှံတို့သည် လူ့သဘာဝအလျောက် ပိုမိုခင်မင်ရင်းနှီးကြကုန်၏။ သို့ခင်မင်ရင်းနှီး နေသောအချိန်များတွင် ကွာရှင်းမှုသည် လင်ယောကျ်ားတို့အဘို့ မလွယ်ကူလှပေ။

အကြောင်းတစ်ခုခုကြောင့် လင်ယောကျ်ားတို့သည် ဇနီးမိန်းမတို့အား ကွာရှင်းကြပြန်လျှင်လည်း ကွာရှင်းခြင်းခံရသော ဇနီးမိန်းမတို့သည် တခါတည်းပြတ်စဲသွားကြသည်မဟုတ်၊ တရားတော်နှင့်အညီ "အစ်ဒ်ဒတ်" ရက်များ စောင့်ဆိုင်းကြရ၏။ သို့စောင့်ဆိုင်း နေရခြင်းအားဖြင့် ဇနီးမောင်နှံနှစ်ဦးတို့တွင် ကွာရှင်းမှုကို ဖြစ်ပေါ်စေသော ဒေါသစိတ်များ၊ ပဋိပက္ခမှုများ၊ အထင်အမြင် မှားမှုများသည် ပပျောက်ပြီး မေတ္တာတရားများ ပြန်လည်သက်ဝင်လာနိုင်ပေသည်။

ဤမျှမကသေး၊ "အစ်ဒ်ဒတ်"ရက်များ စောင့်ဆိုင်းခြင်းအားဖြင့် ဇနီးမိန်းမတို့တွင် ကိုယ်ဝန်ရှိမရှိကိုလည်း ကောင်းစွာသိနိုင်ပေမည်။ အကယ်၍ ဇနီးမိန်းမတို့တွင် ကိုယ်ဝန်ရှိနေပါက သားသမီးတို့၏ သံယောဇဉ် နှောင်ကြိုးသည် ပြတ်လုဆဲဆဲဖြစ်နေသော မိဘနှစ်ပါးတို့အား ပြန်လည်စေ့စပ်ပေးနိုင်ပေသည်။ ဖော်ပြပါ စကားရပ်များကို ဆင်ခြင်သော် "အစ်ဒ်ဒတ်" စောင့်ဆိုင်းခြင်းသည်ပင် ဇနီးမောင်နှံနှစ်ဦးတို့၏ ပြန်လည်စေ့စပ်မှုကို အထူးအားပေးလျက်ရှိသော အဓိကအကြောင်းကြီးတစ်ရပ်ဖြစ်ကြောင်း ကောင်းစွာ သိနိုင်ပေသည်။

وَلَا يَحِلُّ لَهُنَّ أَنْ يَكْتُمْنَ
مَا خَلَقَ اللَّهُ فِي أَرْحَامِهِنَّ
إِنْ كُنَّ يُؤْمِنَّ بِاللَّهِ وَالْيَوْمِ
الْآخِرِ ۚ وَبُعُولَتُهُنَّ أَحَقُّ
بِرَدِّهِنَّ فِي ذَٰلِكَ إِنْ
أَرَادُوا إِصْلَاحًا ۚ وَلَهُنَّ
مِثْلُ الَّذِي عَلَيْهِنَّ
بِالْمَعْرُوفِ ۚ وَلِلرِّجَالِ
عَلَيْهِنَّ دَرَجَةٌ ۗ وَاللَّهُ
عَزِيزٌ حَكِيمٌ ﴿٢٢٨﴾

ထို့ပြင် အကယ်စင်စစ် ထိုဇနီးမိန်းမများသည် အလ္လာဟ်အရှင်မြတ်ကိုငင်း၊ နောက်ဆုံးနေ့ကိုငင်း ယုံကြည်ကြပါလျှင် ထိုဇနီးမိန်းမများအဘို့ မိမိတို့ သားအိမ်များတွင် အလ္လာဟ်အရှင်မြတ် ဖန်ဆင်းထားတော် မူသောအရာ (ကိုယ်ဝန်များကိုငင်း၊ ရာသီပန်းပွင့်ခြင်းကိုငင်း၊) *ထိန်ချန် လျှို့ဝှက်ထားပိုင်ခွင့်မရှိချေ။* [၁] ထို့ပြင် ထိုဇနီးမိန်းမများတို့၏ လင်ယောကျ်ားတို့သည် သင့်မြတ်ခြင်းကို ရည်ရွယ်ကြပါလျှင် ထိုဇနီးမိန်းမများအား *ပြန်လည်သိမ်းပိုက်ရန် အခွင့်အရေး ပို၍ရှိသူများ ဖြစ်ကြပေသည်။* [၂] ထို့ပြင် ထိုဇနီးမိန်းမများအပေါ်ဝယ် တာဝန်များရှိသကဲ့သို့ *ထိုဇနီးမိန်းမများအဘို့လည်း တရားစည်းကမ်းများအတိုင်း အခွင့်အရေးများလည်း ရှိကြပေသည်။* [၃] သို့ပင်တစေ လင်ယောကျ်ားတို့ အဘို့မှာကား ထိုဇနီးမိန်းမများ အပေါ်ဝယ် သာလွန်ခြင်းတစ်ရပ် ရှိပေသည်။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ် သည် တန်ခိုးအာနုဘော်ဖြင့် လွှမ်းမိုးတော်မူသော အရှင်၊ ကျိုးကြောင်း ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင် ဖြစ်တော်မူပေသတည်း။

---

(၁) ကွာရှင်းခြင်းခံရသော ဇနီးမိန်းမများသည် မိမိတို့၏ကိုယ်ဝန်ကိုငင်း၊ ရာသီသွေးကိုငင်း၊ ရှိက ရှိသည့်အလျောက်၊ မရှိက မရှိသည့်အလျောက် ဟုတ်မှန်ရာကို ထုတ်ဖော်ပြောဆိုကြရပေမည်။ ထိန်ချန်၍ မထားပိုင်ချေ။ အကယ်၍ ဇနီးမိန်းမများသည် မိမိတို့ကိုယ်ဝန်ကိုငင်း၊ ရာသီသွေးကိုငင်း၊ ထိန်ချန်ထားကြသည်ရှိသော် "အစ်ဒ်ဒတ်" ရက် ရေတွက်ရာတွင် အမှားမှားအယွင်းယွင်းဖြစ်ပြီး ရှေ့ဆက်လက်၍ မှားယွင်းမည်မှာ မလွဲဧကန်ပင်ဖြစ်သည်။
(၂) လင်ယောကျ်ားများသည် "တွလာက်ရဂျ်အီ" ပေး၍ ဖြတ်ထားသော ဇနီးမိန်းမများအား "အစ်ဒ်ဒတ်" ရက်အတွင်း သင့်မြတ်မှုကို ရည်ရွယ်၍ ပြန်လည် သိမ်းပိုက်လိုက သိမ်းပိုက်နိုင်ကြပေသည်။ သို့ပြန်လည် သိမ်းပိုက်ခြင်းကို "ရှရီအတ်" တွင် "ရဂျ်အတ်" ဟုခေါ်သည်။
(၃) လင်ယောကျ်ားတို့၏ အခွင့်အရေးများသည် ဇနီးမိန်းမများအပေါ်တွင်ရှိသကဲ့သို့ ဇနီးမိန်းမတို့၏ အခွင့်အရေးများသည်လည်း လင်ယောကျ်ားတို့အပေါ်၌ တည်ရှိပေသည်။ ဤကား အလ္လာဟ်အရှင်မြတ်၏ မုက္ခပါဌ်တော်တည်း။

➤➤

اَلطَّلَاقُ مَرَّتٰنِ ۪ فَاِمۡسَاكٌۢ بِمَعۡرُوۡفٍ اَوۡ تَسۡرِيۡحٌۢ بِاِحۡسَانٍ ؕ وَلَا يَحِلُّ لَكُمۡ اَنۡ تَاۡخُذُوۡا مِمَّاۤ

၂၂၉။ (ဇနီးမောင်နှံ ပြန်လည်ပေါင်းသင်းနိုင်သော) ကွာရှင်းခြင်းသည် *နှစ်ကြိမ်မျှသာတည်း။* [၁] ထို့နောက် (လင်ယောက်ျားများသည် မိမိတို့၏ ဇနီးများကို) တရားတော်နှင့်အညီ ပြန်လည်သိမ်းပိုက် ပေါင်းသင်းရန်သာရှိ၏။ သို့တည်းမဟုတ် (တတိယအကြိမ် ထပ်မံကွာရှင်း၍) ကောင်းမွန်စွာ စွန့်လွှတ်ရန်သာ ရှိတော့သတည်း။

---

➤➤ အစ္စလာမ်သာသနာမထွန်းကားမီ "အိုင်ယာမိဂျာဟိလီယတ်" အမိုက်ခေတ်တွင် အရဗ်လူမျိုးတို့သည် အမျိုးသမီးများကို လူ၏စာရင်း၌ပင်မသွင်းခဲ့ကြပေ။ အမျိုးမျိုးချုပ်ချယ် နှိမ်နင်း၍ ထားခဲ့ကြ၏။ အမျိုးသမီးများကို တိရိစ္ဆာန်များပမာ လူတို့၏ အသုံးအဆောင် ပစ္စည်းသဘွယ် ယူဆထားကြ၏။ လင်ယောက်ျားများ သေဆုံးသွားသည့်အခါ ကျန်ရစ်သော ဇနီးမိန်းမများသည် အမွေခံ အမွေစားဖြစ်သော လင်ပါသား ယောက်ျားတို့၏ အမွေပစ္စည်းများအထိ ဖြစ်သွားခဲ့ကြရ၏။

အတိတ်ခေတ်များတွင် ယဟူဒီဘာသာနှင့် ခရစ်ယာန်ဘာသာတို့သည်လည်း အမျိုးသမီးများကို မကောင်းမှုတို့၏ ဖြစ်ပွားရာဌာနဟူ၍ပင် မှတ်ယူခဲ့ကြ၏။

အစ္စလာမ်သာသနာတွင်ကား အမျိုးသမီးတို့အား ရသင့်ရထိုက်သော အခွင့်အရေးတို့ကို အပြည့်အစုံ ပေးထားလေသည်။

အလ္လာဟ် အရှင်မြတ်သည် အမျိုးသမီးများနှင့် ပတ်သက်သည့် အချို့ ပြဿနာရပ်များကို ထင်ရှား သိစေတော်မူရန်အလို့ငှာ ကုရ်အာန်ကျမ်းမြတ်တွင် "အမျိုးသမီး-ကဏ္ဍ" ကို သီးသန့် ထုတ်ပြန်ပို့ချတော်မူခဲ့သည်။ အလ္လာဟ်အရှင်မြတ်သည် အမျိုးသမီး၊ အမျိုးသားတို့၏ ကုသိုလ်အကျိုးများကို အညီအမျှ ပေးသနားတော်မူလေသည်။ ကြည့်-ကုရ်အာန်-(၃း၁၉၄၊ ၄း၁၂၄၊ ၁၆း၉၇၊ ၄၀း၄၀)။

နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လာမ်)သည် ဇနီးသည်တို့အား ကောင်းစွာ ထားရှိရမည့် အကြောင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း မိန့်ကြားတော်မူခဲ့၏။

အသင်တို့တွင် အကောင်းဆုံးသောသူကား မိမိတို့၏ ဇနီးမိန်းမများအပေါ်တွင် အကောင်းဆုံးသော သူပင်ဖြစ်၏။ ငါကား ငါ၏ဇနီးမိန်းမများအပေါ်တွင် အကောင်းဆုံးပင်ဖြစ်၏။ (မစ်ရှ်ကာတ်)။

"အကြင်အမျိုးသမီးတစ်ဦးသည် အကယ်၍ မိမိ၌တာဝန်ရှိသော "ဆွလာတ်" ငါးကြိမ်ဝတ်ပြု၏။ မိမိ၌ တာဝန်ရှိသော ရမသွာန်လတွင် "ဆွိယာမ်" ဥပုသ်ဆောက်တည်၏။ မိမိ၏ ကာယေန္ဒြေသိက္ခာကို ထိန်းသိမ်း စောင့်ရှောက်၏၊ မိမိခင်ပွန်း၏စကားကိုလည်း နာခံ၏၊ သို့ဖြစ်ပါသော် ထိုအမျိုးသမီးသည် ဂျန္နတ်အတွင်းသို့ မိမိအလိုရှိရာ မည်သည့်တံခါးပေါက်မှမဆို ဝင်ရောက်စံမြန်းနိုင်၏" ဟု နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လာမ်)က မိန့်ကြားတော်မူခဲ့သည်။ (မစ်ရှ်ကာတ်)။

(၁) ကုရ်အာန်ကျမ်းမြတ် (၂း၂၂၉)တွင်ပါရှိသော "တွလာက်"သည် "တွလာက် ရဂျ်အီ"ကို ဆိုလိုသည်။ "တွလာက်ရဂျ်အီ" ဟူသည်ကား ဇနီးမောင်နှံနှစ်ဦး ပြန်လည်ပေါင်းသင်းနိုင်သော လင်မယားကွာရှင်းခြင်းမျိုးကို ဆိုလိုသည်။ တွလာက်ရဂျ်အီသည် နှစ်ကြိမ်မျှသာ ဖြစ်ချေသည်။ ➤➤

➤➤ "တလာက်" ကွာရှင်းခြင်းသည် သုံးမျိုးသုံးစားရှိ၏၊
(၁) တလာက်အဟ်စန်၊
(၂) တလာက်ဟစန်၊
(၃) တလာက်ဗစ်ဒ်အတ်။

က။ "တလာက်အဟ်စန်" အကောင်းဆုံးသော ကွာရှင်းခြင်းဟူသည်ကား ဇနီးမိန်းမသည် ရာသီပန်းပွင့်ချိန်ပြီး၍ "တွုဟ်ရ်" သန့်ရှင်းနေသော အချိန်တွင်ဖြစ်စေရမည်၊ လင်ယောကျ်ားသည် ထိုသန့်ရှင်းသောအချိန်တွင် ထိုဇနီးမိန်းမနှင့် ကာယသံသဂ္ဂအမှု မပြုသည်လည်း ဖြစ်စေရမည်။ ထိုအချိန်တွင် လင်ယောကျ်ားသည် မိမိ၏ဇနီးမိန်းမအား တလာက်တကြိမ်ပေး၍ "အစ်ဒ်ဒတ်" ရက် ကုန်ဆုံးသည်အထိ ပြန်လည်သိမ်းပိုက်ခြင်းမပြုဘဲ စွန့်လွှတ်ပြတ်စဲခြင်းကို ဆိုလိုသည်။

ခ။ "တလာက်ဟစန်" ကောင်းသောတလာက် ဟူသည်ကား လင်ယောကျ်ားသည် (ကာယသံသဂ္ဂအမှု ပြုပြီးသော) မိမိ၏ ဇနီးမိန်းမအား ပဌမလ ရာသီပန်းပွင့်ပြီး၍ သန့်ရှင်းနေသော အချိန်တွင် တကြိမ်၊ ဒုတိယလ ရာသီပန်းပွင့်ပြီး၍ သန့်ရှင်းနေသော အချိန်တွင်တကြိမ်၊ တတိယလ ရာသီပန်းပွင့်ပြီး၍ သန့်ရှင်းနေသောအချိန်တွင် တကြိမ်၊ ဤသို့ တလာက်သုံးကြိမ် အသီးသီး ပေးခြင်းကိုဆိုလိုသည်။

ဂ။ "တလာက်ဗစ်ဒ်အီ" – "ဗစ်ဒ်အတ်" ဖြစ်သော တလာက်ဟူသည်ကား လင်ယောကျ်ားသည် မိမိ၏ဇနီးမိန်းမအား တလာက်သုံးကြိမ်ကို တခွန်းတည်းဖြင့်ပေးခြင်းကိုင်း၊ "တွုဟ်ရ်" ရာသီပန်းပွင့်ပြီး၍ သန့်ရှင်းနေသော အချိန်တစ်ခုတည်းတွင် တလာက် သုံးကြိမ်ပေးခြင်းကိုင်း၊ ဆိုလိုသည်။ ထိုကဲ့သို့ တလာက် ဗစ်ဒ်အီပေးလျှင်လည်း တလာက်အထမြောက်သည်၊ သို့ရာတွင် တရားတော်နှင့် ဆန့်ကျင်သောနည်းဖြင့် တလာက်ပေးသည့်အတွက် အပြစ်သင့်ပေမည်။ ကြည့်–(ဟိဒါယဟ်ကျမ်း)။

သာဝကကြီးတစ်ပါးက အို–အလ္လာဟ်၏ရစူလ်၊ "တလာက်" သည် နှစ်ကြိမ်မျှဖြစ်သည်ဟု အလ္လာဟ် အရှင်မြတ်၏ မုက္ခပါဌ်တော်တွင် ပါရှိပါသည်၊ တတိယ တလာက်သည် အဘယ်မှာနည်း၊ အမိန့်ရှိတော်မူပါဟု လျှောက်ထားရာ နဗီတမန်တော်က "ကောင်းစွာ စွန့်လွှတ်ပြတ်စဲခြင်း" ဟူသော မုက္ခပါဌ်တော်သည်ပင် တတိယတလာက်ဖြစ်ကြောင်း ပြန်ကြားတော်မူလေသည်။ (တစ်ရ်မိဇီ)

လင်ယောကျ်ားတို့သည် ဇနီးမိန်းမများအား ပြန်လည်သိမ်းပိုက်လိုကြလျှင် တရားတော်နှင့်လျော်ညီစွာ ကောင်းမြတ်သော စေတနာဖြင့် ပြန်လည်သိမ်းပိုက်ကြရမည်။ နှိပ်စက်ညှဉ်းပမ်းလိုသော သဘောဖြင့် ပြန်လည်သိမ်းပိုက်ခြင်းမပြုကြရ။ ဇနီးမိန်းမတို့အား ကွာရှင်းကြလျှင်လည်း ယဉ်ကျေးသိမ်မွေ့စွာ ကွာရှင်းကြရမည်၊ ဇနီးမိန်းမတို့၏ ဂုဏ်သိက္ခာကို ထိပါးပုတ်ခတ်၍ မပြောကြရ၊ အရှက်တကွဲ အကျိုးနည်းဖြစ်အောင်လည်း မပြုကြရ။

ဇနီးမိန်းမတို့အား ပြန်လည်သိမ်းပိုက်ခြင်း အကြောင်းနှင့်စပ်လျဉ်း၍ အကျယ်ကို "ဟိဒါယဟ်" ကျမ်းတွင်ရှုပါ။

ဇနီးမောင်နှံနှစ်ဦးတို့၏ မသင့်မြတ်မှုတွင် ဇနီးမိန်းမဘက်မှ ချွတ်ယွင်းချက်ရှိပါလျက် ထိုဇနီးမိန်းမကပင် ကွာစာတောင်းလျှင် ထိုမိန်းမ၌အပြစ်ရှိချေသည်။ ထိုမိန်းမပေးသောလျော်ကြေးကို ယူသည့်အတွက် လင်ယောကျ်ား၌ အပြစ်မရှိချေ။ သို့ရာတွင် လင်ယောကျ်ားသည် လျော်ကြေးကို "မဟ်ရ်" ခန်းဝင်ပစ္စည်းထက် ပိုမို၍ မယူအပ်ချေ။

ဇနီးမောင်နှံနှစ်ဦးတို့၏ မသင့်မြတ်မှုတွင် ချွတ်ယွင်းချက်သည် လင်ယောကျ်ားဘက်မှ ဖြစ်သော် လင်ယောကျ်ားသည် ဇနီးမိန်းမထံမှ လျော်ကြေးအလျှင်းမယူသင့်ချေ။ ➤➤

اٰتَیْتُمُوْهُنَّ شَیْــًٔا اِلَّاۤ اَنْ یَّخَافَاۤ اَلَّا یُقِیْمَا حُدُوْدَ اللّٰهِ ؕ فَاِنْ خِفْتُمْ اَلَّا یُقِیْمَا حُدُوْدَ اللّٰهِ ۙ فَلَا جُنَاحَ عَلَیْهِمَا فِیْمَا افْتَدَتْ بِهٖ ؕ تِلْكَ حُدُوْدُ اللّٰهِ فَلَا تَعْتَدُوْهَا ۚ وَ مَنْ یَّتَعَدَّ حُدُوْدَ اللّٰهِ فَاُولٰٓىِٕكَ هُمُ الظّٰلِمُوْنَ ﴿۲۲۹﴾

ၵင်းပြင် အသင်တို့အဘို့ ထိုဇနီး မိန်းမတို့အား ပေးခဲ့သော (“မဟ်ရ်” ခန်းဝင်ပစ္စည်း အစရှိသည် များ)အနက်မှ တစုံတရာကိုမျှ ပြန်လည်ယူပိုင်ခွင့် မရှိချေ။ သို့ရာတွင် ယင်းဇနီးမောင်နှံနှစ်ဦးတို့သည် အလ္လာဟ်အရှင်မြတ်၏ စည်းကမ်းများကို စောင့် ထိန်းနိုင်ကြမည်မဟုတ်ဟု စိုးရိမ်ကြသောအခါမျိုး၌ မူ (ယူနိုင်ခွင့်ရှိပေသည်။) သို့ဖြစ်လေရာ အကယ်၍ ယင်းဇနီး မောင်နှံနှစ်ဦးသည် အလ္လာဟ်အရှင်မြတ်၏ စည်းမျဉ်း ဥပဒေများကို မစောင့်ထိန်းနိုင်မည်ကို အသင်တို့စိုးရိမ်ကြပါမူ ထိုဇနီးမိန်းမက လျော်ကြေး ပေးသော ပစ္စည်းနှင့်စပ်လျဉ်း၍ ထိုဇနီးမောင်နှံနှစ်ဦး တို့အပေါ်တွင် တစုံတရာမျှ အပြစ်မထိုက်သင့်ချေ။ ဤသည်တို့ကား အလ္လာဟ်အရှင်မြတ် သတ်မှတ် ပြဋ္ဌာန်းထားတော်မူသော စည်းမျဉ်းဥပဒေများတည်း။ သို့ဖြစ်လေရာ အသင်တို့သည် ယင်းစည်းမျဉ်းတို့ကို မကျူးလွန်ကြကုန်လင့်။ စင်စစ်တမူကား အကြင် မည်သူမဆို အလ္လာဟ်အရှင်မြတ်၏ စည်းမျဉ်းများကို ကျူးလွန်ပါမူ ထိုသူတို့သာလျှင် ပြစ်မှားကျူးလွန် သူများ ဖြစ်ကြကုန်သတည်း။

---

➤➤ အကယ်၍ ဇနီးမောင်နှံနှစ်ဦးတို့တွင် ဖြစ်ပွားလျက်ရှိသော မသင့်မြတ်မှုနှင့်စပ်လျဉ်း၍ လင်ယောကျ်ားက မိမိမှာ တစုံတရာ အပြစ်မရှိ၊ ဇနီးမိန်းမ၌သာ အပြစ်ရှိသည်ဟုဆို၏။ ဇနီးမိန်းမကလည်း မိမိမှာ တစုံတရာ အပြစ်မရှိ၊ လင်ယောကျ်ား၌သာ အပြစ်ရှိသည်ဟုဆို၏၊ သို့အချင်းဖြစ်ပွားနေသော အချိန်မျိုးတွင် ဇနီးမိန်းမက လျော်ကြေးပေး၍ ကွာစာတောင်းသည်ရှိသော် ထိုသို့လျော်ကြေးပေး၍ ကွာစာတောင်းသည့်အတွက် ဇနီးမိန်းမ၌ အပြစ်မရှိချေ၊ လင်ယောကျ်ား၌လည်း လျော်ကြေးယူသည့်အတွက် အပြစ်မရှိချေ။ သို့ရာတွင် လင်ယောကျ်ားသည် “မဟရ်” ခန်းဝင်ပစ္စည်းထက် ပိုမို၍ကား လျော်ကြေးမယူသင့်ချေ။ ကြည့်-(ထာနဝီ)။

မည်သည့်မိန်းမ မဆို စိုးရိမ်ကြောင့်ကြမှု တစုံတခု မရှိဘဲလျက် မိမိ၏ လင်ယောကျ်ားထံမှ တလာက် ဖြတ်စာတောင်းသည်ရှိသော် ထိုမိန်းမအပေါ်တွင် “ဂျန္နတ်” အမတသုခဘုံ၏ အနံ့အသက် သည်ပင် “ဟရာမ်” ဖြစ်ချေသည်ဟု နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)က မိန့်ကြားတော်မူခဲ့သည်။ (အီဗ်နုဂျရီရ်။)

فَاِنْ طَلَّقَهَا فَلَا تَحِلُّ لَهٗ مِنْۢ بَعْدُ حَتّٰى تَنْكِحَ زَوْجًا غَيْرَهٗ ؕ فَاِنْ طَلَّقَهَا فَلَا جُنَاحَ عَلَيْهِمَاۤ اَنْ يَّتَرَاجَعَاۤ اِنْ ظَنَّاۤ اَنْ يُّقِيْمَا حُدُوْدَ اللّٰهِ ؕ وَتِلْكَ حُدُوْدُ اللّٰهِ يُبَيِّنُهَا لِقَوْمٍ يَّعْلَمُوْنَ ﴿٢٣٠﴾

၂၃၀။ (တွလာက်ရဂျ်အီ နှစ်ကြိမ်ပေးပြီးသည့်နောက်) တဖန် အကယ်၍ လင်ယောကျ်ားသည် ထိုဇနီးမိန်းမအား ထပ်မံ၍ "တွလာက်" ကွာရှင်းခဲ့သည်ရှိသော် (သို့သုံးကြိမ်မြောက် တွလာက် ပေးပြီးသည့်) နောက် ထိုလင်ယောကျ်ားအတွက် ထိုဇနီးမိန်းမသည် *အခြား လင်ယောကျ်ားတစ်ဦးဦးနှင့် နိကာဟ် ထိမ်းမြား ဆက်ဆံ ပေါင်းသင်းခြင်းမပြုသမျှ ကာလပတ်လုံး (ဟလာလ်) တရားဝင်ဇနီး ဖြစ်မည်မဟုတ်ပေ။* ၁ (ထိုကဲ့သို့ အခြား လင်ယောကျ်ား တစ်ဦးဦးနှင့် ထိမ်းမြားပြီးသည့်နောက်) အကယ်၍ ထို(ဒုတိယ) လင်ယောကျ်ားကလည်း ထိုဇနီးမိန်းမအား ကွာရှင်းခဲ့ပြန်သည်ရှိသော် ထိုဇနီးမိန်းမနှင့် (ပဌမ) လင်ယောကျ်ားနှစ်ဦးတို့သည် အကယ်၍ မိမိတို့နှစ်ဦးသည် အလ္လာဟ် အရှင်မြတ်၏ စည်းမျဉ်းဥပဒေများကို စောင့်ထိန်းနိုင်ကြမည်ဟု ထင်မြင်ယူဆပြီး တဖန် ပြန်လည်ပေါင်းသင်း ဆက်ဆံကြပါသော် ထိုဇနီးမောင်နှံ နှစ်ဦးတို့အပေါ်တွင် တစုံတရာအပြစ်မရှိချေ။

(၁) ယောကျ်ားတစ်ဦးသည် ဇနီးမိန်းမအား "တွလာက်ရဂျ်အီ" ၂-ကြိမ်ပေးပြီးသည့်နောက် အကယ်၍ ထပ်မံပြီး တတိယအကြိမ်မြောက် "တွလာက်" ပေးခဲ့သည်ရှိသော် ထိုယောကျ်ားအတွက် ထိုဇနီးမိန်းမသည် အခြားယောကျ်ားနှင့် ထိမ်းမြား၍ ကာယသံသဂ္ဂအမှု မပြုသမျှကာလပတ်လုံး တရားဝင်မယားဖြစ်မည်မဟုတ်ပေ။ ရှင်းဦးအံ့-။

တွလာက် သုံးကြိမ်တိတိ ပေးခြင်းခံရ၍ လင်ယောကျ်ားနှင့် လုံးလုံးလျားလျား ပြတ်စဲလျက်ရှိသော အမျိုးသမီးတစ်ဦးသည် နောက်တဖန်ပြန်လည်၍ မိမိ၏ ပဌမလင်ယောကျ်ားအတွက် တရားဝင်မယားဖြစ်ရန် မလွယ်ကူလှပေ၊ သို့ရာတွင် အကယ်၍ ထိုဇနီးမိန်းမသည် တရားတော်နှင့်အညီ အစ်ဒ်ဒတ် ရက်ဆိုင်းပြီးသည့်နောက် အခြားယောကျ်ားတစ်ဦးနှင့် နိကာဟ်ပြုအံ့၊ လင်ခန်းမယားခန်းလည်း မြောက်အံ့၊ ကာယသံသဂ္ဂအမှုလည်းပြုအံ့၊ သို့နိကာဟ်ပြုပြီးသည့်နောက် ဒုတိယလင်ယောကျ်ားသည် အကယ်တန္တု သေဆုံးသွားအံ့၊ သို့တည်းမဟုတ် ဒုတိယလင်ယောကျ်ားကလည်း ထိုဇနီးမိန်းမအား တွလာက်ပေးအံ့၊ ထိုဇနီးမိန်းမသည် အစ်ဒ်ဒတ်ရက်လည်း ဆိုင်းပြီးဖြစ်အံ့၊ ထိုအချိန်တွင် ထိုဇနီးမိန်းမနှင့် ပဌမယောကျ်ားတို့သည် ဇနီးမောင်နှံတို့နှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်၏ စည်းမျဉ်းဥပဒေများကို မပျက်မကွက် လိုက်နာဆောင်ရွက်နိုင်ကြလိမ့်မည်ဟု ထင်မြင်ယူဆကြပါလျှင် ပြန်လည်၍ ထိမ်းမြားနိုင်ကြပေသည်။

အမှန်စင်စစ် ဤသည်တို့ကား အလ္လာဟ်အရှင်မြတ်၏ စည်းကမ်းဥပဒေများပင်တည်း။ ထိုအရှင်မြတ် သည် ထိုဥပဒေစည်းမျဉ်းများကို အသိအလိမ္မာ ဉာဏ်ပညာနှင့် ပြည့်စုံသော သူများအတို့ ရှင်းလင်းစွာ ထုတ်ဖော် မိန့်ကြားထားတော်မူလေသတည်း။

وَإِذَا طَلَّقْتُمُ النِّسَآءَ فَبَلَغْنَ أَجَلَهُنَّ فَأَمْسِكُوهُنَّ بِمَعْرُوفٍ أَوْ سَرِّحُوهُنَّ بِمَعْرُوفٍ ۚ وَلَا تُمْسِكُوهُنَّ ضِرَارًا لِّتَعْتَدُوا ۚ وَمَن يَفْعَلْ ذَٰلِكَ فَقَدْ ظَلَمَ نَفْسَهُۥ ۚ وَلَا تَتَّخِذُوٓا آيَاتِ اللَّهِ هُزُوًا ۚ وَاذْكُرُوا نِعْمَتَ اللَّهِ عَلَيْكُمْ

၂၃၁။ တဖန် မည်သည့်အခါဝယ် အသင်တို့သည် (မိမိတို့) *ဇနီးမိန်းမများကို (တွလာက်ရဂျ်အီ)ပေး*၍[၁] ကွာရှင်းပြီးသည့်နောက် ထိုဇနီးမိန်းမတို့သည် (မိမိတို့အတို့ ကန့်သတ် ပိုင်းခြားထားသော "*အစ်ဒ်ဒတ်*" *ရက်ပိုင်းကာလ ပရိစ္ဆေဒ (ကုန်ဆုံးခါနီး)* သို့[၂] ရောက်ရှိသွားကြပါမူ၊ အသင်တို့သည် ထိုဇနီး မိန်းမတို့အား တရားစည်းကမ်းနှင့် အညီ ပြန်လည် သိမ်းပိုက်ပေါင်းသင်းကြရမည်၊ သို့တည်း မဟုတ် တရားစည်းကမ်း အတိုင်း ထိုဇနီး မိန်းမတို့အား စွန့်လွှတ်ကြရမည်။ သို့ရာတွင် အသင်တို့သည် ထိုဇနီးမိန်းမတို့ကို နစ်နာစေသော စေတနာဖြင့် ညှဉ်းပန်းနှိပ်စက် နိုင်ကြရန်အတွက် ပြန်လည် သိမ်းပိုက်ခြင်းကို မပြုကြကုန်လင့်။ အမှန်သော်ကား မည်သူမဆို ယင်းကဲ့သို့ (နစ်နာစေမှုကို) ပြုလုပ်ခဲ့ပါမူ ထိုသူသည် အမှန်စင်စစ် မိမိကိုယ်ကိုသာ မိမိ နှိပ်စက်ရာ ရောက်ပေသည်။

---

(၁) ကုရ်အာန်ကျမ်းလာ မုကဒ္ဒပါဌ်တော်(၂:၂၃၁)တွင် ပါရှိသော 'တွလာက်' ဟူသည် 'တွလာက်ရဂျ်အီ' ကိုပင် ဆိုလိုသည်။

(၂) "အဂျလ်" ဟူသော စကားသည် ကာလပရိစ္ဆေဒ၊ အချိန်ပိုင်းအားလုံးကိုလည်း ဆိုသည်၊ ကာလပရိစ္ဆေဒ၏ နောက်ဆုံးပိုင်းကိုလည်း ဆိုသည်။ အရဗီစာပေ၌ လူ၏ သက်တမ်းကိုဒင်း၊ သေဆုံးခြင်းကိုဒင်း၊ "အဂျလ်" ဟူ၍ အသုံးအနှုန်း ရှိသည်ကို ဆင်ခြင်ရာ၏။ ဤ မုကဒ္ဒပါဌ် တော်တွင် အချိန်၏ နောက်ဆုံးပိုင်းကို ဆိုလိုသည်။

"ဗူလူဃ်" ဟူသောစကားသည် ရောက်ခြင်း၊ နီးကပ်ခြင်း အနက်များကိုဆောင်သည်။ ဤမုကဒ္ဒပါဌ်တော်တွင် နီးကပ်ခြင်း၊ အနက်ကို ဆိုလိုသည်။ ➢➢

وَمَآ اَنۡزَلَ عَلَيۡكُمۡ مِّنَ الۡكِتٰبِ وَالۡحِكۡمَةِ يَعِظُكُمۡ بِهٖ ؕ وَاتَّقُوا اللّٰهَ وَاعۡلَمُوۡٓا اَنَّ اللّٰهَ بِكُلِّ شَىۡءٍ عَلِيۡمٌ ﴿٢٣١﴾

ထိုမှတပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်ပညတ်တော်များကို ပြောင်လှောင်ပြက်ချော် သရော်သမှုမပြုလုပ်ကြကုန်လင့်။ [၁] တဖန် အသင်တို့သည် မိမိတို့အပေါ်ဝယ် အလ္လာဟ်အရှင်မြတ် ပြုထားတော်မူသော *ကျေးဇူးတော်များကိုငှင်း၊* [၂] ထိုအရှင်မြတ် ထုတ်ပြန်ချမှတ်တော်မူသော *ကျမ်းဂန်နှင့်အသိအလိမ္မာ ဉာဏ်ပညာများကိုငှင်း၊* [၃] သတိရကြကုန်လော့။ ထိုအရှင်သည် ထိုကျမ်းဂန်ဒေသနာဖြင့်ငှင်း၊ အသိအလိမ္မာ ဉာဏ်ပညာဖြင့်ငှင်း အသင်တို့အား ပဲ့ပြင်ဆုံးမတော်မူသည်၊ ထို့ပြင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကို ကြောက်ရွံ့ကြကုန်၊ ဧကန်စင်စစ် အလ္လာအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသောအရှင်ဖြစ်တော်မူသည်ကိုလည်း အသင်တို့ ယုံကြည်မှတ်ယူကြလေကုန်။

---

➤➤ "ထိုဇနီးမိန်းမများသည် မိမိတို့၏ အချိန်ပိုင်းသို့ ရောက်ရှိသွားကြပြီ" ဟူသောစကား၏ အလိုမှာ အချိန်ပိုင်း လုံးဝကုန်ဆုံးသွားသည်ကို ဆိုလိုသည်မဟုတ်၊ အချိန်ပိုင်းကုန်ဆုံးခါနီးသို့ ရောက်ရှိသွားခြင်းကိုသာ ဆိုလိုသည်။ ဤသို့သော အလားတူအသုံးအနှုန်းများသည် ကုရ်အာန်ကျမ်းမြတ်တွင်ငှင်း၊ အဘိဓာန်ကျမ်းများတွင်ငှင်း၊ အများအပြား တွေ့ရှိရပေသည်။ (ဂျဆွဲဆွာဆွ်)။

(၁) "အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်ပညတ်တော်များကို ပြောင်လှောင်ပြက်ချော် သရော်သမှု မပြုလုပ်ကြကုန်လင့်" ဟူသော မုက္ခပါဌ်တော်တွင် ပါရှိသော သရော်သမှုပြုခြင်း ဟူသောစကားသည် "မုချ" မဟုတ်၊ "ဥပစာ" ဖြစ်ချေသည်။ ဆိုလိုသည်ကား အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်ပညတ်များကို လိုက်နာကျင့်သုံးရာတွင် မပျက်ကွက်ကြကုန်လင့်၊ အတိအကျ လိုက်နာကြကုန်" ဟူလို။ အဘယ့်ကြောင့်ဟူမူ အကြင်သူတစ်ဦးသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်ပညတ်တော်များကို တကယ်ပြောင်လှောင်ပြက်ချော်သရော်သမှုပြုပါမူ ထိုသူသည် "ကာဖိရ်" ဖြစ်သွားပေမည်။

အချို့ "မုဖတ်စ်စစ်ရ်" များသည် အထက်ဖော်ပြပါ မုက္ခပါဌ်တော်ကို အောက်ပါအတိုင်း တနည်း အနက်ဖွင့်ကြသည်။

အတိတ်ခေတ်တွင် အချို့သူများသည် မိမိတို့၏ ဇနီးမိန်းမများအား တလာက်ပေးကြ၏၊ သို့ 'တလာက်' ပေးပြီးနောက် ငါပြောင်လှောင်မိခြင်းသာဖြစ်ပါသည်ဟု ပြောဆိုကြ၏။ ထို့အတူ အချို့တို့သည် မိမိတို့၏ ကြေးကျွန်များကို ကျွန်အဖြစ်မှ လွတ်မြောက်စေ၏။ သို့လွတ်မြောက်စေပြီးနောက် ငါသည် ➤➤

وَإِذَا طَلَّقْتُمُ النِّسَاءَ
فَبَلَغْنَ أَجَلَهُنَّ
فَلَا تَعْضُلُوهُنَّ أَنْ
يَنْكِحْنَ أَزْوَاجَهُنَّ إِذَا
تَرَاضَوْا بَيْنَهُمْ
بِالْمَعْرُوفِ ۗ ذَٰلِكَ
يُوعَظُ بِهِ مَنْ كَانَ

၂၃၂။ ထို့ပြင် အကြင်အခါဝယ် အသင်တို့သည် (မိမိတို့၏) *ဇနီးမိန်းမများကို (တွလာက်ရဂျ်အီ ပေး၍)ကွာရှင်းကြပါလျှင်* [၁] သို့ကွာရှင်းပြီးနောက် ထိုဇနီးမိန်းမတို့သည် *မိမိတို့၏(အစ်ဒ်ဒတ်) ရက်ပိုင်း (အဆုံး)သို့ ရောက်သွားကြသောအခါ* [၂] အကယ်၍ (ထိုဇနီးမိန်းမတို့နှင့် နောက်ထပ်အိမ်ထောင် ပြုအံ့ သော လင်ခင်ပွန်းတို့သည်) တရားစည်းကမ်းနှင့် အညီ (အိမ်ထောင်ပြုရန်) အချင်းချင်း နှစ်ဦးနှစ်ဝသဘော မျှကြပါသော် အသင်တို့သည် ထိုဇနီးမိန်းမတို့အား မိမိတို့၏ ခင်ပွန်းများနှင့် ထိမ်းမြားခြင်းမှ ဖိနှိပ် ချုပ်ချယ် မြစ်တားခြင်းမပြုကြကုန်လင့်။

---

➢➢ ပြောင်လှောင်မိခြင်းသာဖြစ်သည်” ဟု ပြောဆိုကြ၏။

ကျမ်းဂန်လာ အမိန့်ပညတ် များနှင့် စပ်လျဉ်း၍ ဖော်ပြပါအတိုင်း အတိတ်ခေတ်များတွင် ပြောင်လှောင်ပြက်ချော် သရော်သမှု ပြုခဲ့ကြသည်များကို မပြုကြရန်အတွက် အလ္လာဟ် အရှင်မြတ်သည် မြစ်တားတော်မူခြင်းပင်ဖြစ်သည်။ ကြည့်-ထာနဝီ။

အမိန့်ပညတ်များကို ပေါ့ပေါ့ဆဆ မပြုလုပ်ရမည့်အကြောင်းနှင့် စပ်လျဉ်း၍ နဗီတမန်တော်သည် အောက်ပါအတိုင်း မိန့်ကြားတော်မူခဲ့သည်။

အချက်သုံးရပ်ရှိသည်၊ ထိုအချက်များကို အတည်တကျပြုလုပ်ခြင်းသည်လည်း အတည်ဖြစ်၏၊ ထိုအချက်များကို ပြောင်လှောင်ခြင်းသည်လည်း အတည်ပင်ဖြစ်၏၊ ဂိုအချက်များကား ကွာရှင်းခြင်း၊ ထိမ်းမြားခြင်း၊ ကျွန်အဖြစ်မှ လွတ်မြောက်စေခြင်း တို့တည်း။

၂ ကုရ်အာန်ကျမ်း (၂:၂၃၁)တွင်ပါရှိသော “အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်” တွင် တရားလမ်းမှန်သို့ ပို့ဆောင်ခြင်းနှင့် နဗီတမန်တော် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား စေလွှတ်တော်မူခြင်းသည်လည်း အပါအဝင်ဖြစ်ပေသည်။

၃ ကုရ်အာန်ကျမ်း(၂:၂၃၀)တွင် ပါဝင်သော ‘ကိတာဗ်’ ဟူသည် ကုရ်အာန်ကျမ်းမြတ်ကိုဆိုလိုသည်၊ ‘ဟစ်က်မတ်’ ဟူသည် နဗီတမန်တော် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ကျင့်စဉ်ကိုဆိုလိုသည်။

၁ ကုရ်အာန်ကျမ်း(၂:၂၃၁)တွင် ပါရှိသော “အသင်တို့သည် ကွာရှင်းခဲ့ကြ၏” ဟူသော မုကၡပါဌ်တော်၌ ‘အသင်တို့’ ဟူသောစကားသည် လင်ယောကျာ်းများကိုငှင်း၊ သက်ဆိုင်ရာ အကြီးအကဲ အုပ်ထိန်းသူများကိုငှင်း၊ လူသားအားလုံးတို့ကိုငှင်း ရည်ညွှန်းသောစကားဖြစ်သည်။ ကြည့်-ဂျဆ္စ်ဆွာဆ်။

၂ ကုရ်အာန်ကျမ်းမြတ် (၂:၂၃၁)တွင်ငှင်း၊ (၂:၂၃၂)တွင်ငှင်း၊ (فَبَلَغْنَ أَجَلَهُنَّ) ဟူသောဝါကျ ၂-ခုကို တွေ့ရှိရပေသည်။ ထိုဝါကျ ၂-ခုသည် စာသားချင်းတူငြားသော်လည်း အလိုသဘောမှာ ခြားနားလျက်ရှိပေသည်။ (၂:၂၃၁) တွင်ပါရှိသော (فَبَلَغْنَ أَجَلَهُنَّ) ၏အလိုသဘောမှာ “ထို ဇနီးမိန်းမတို့သည် မိမိတို့၏ ➢➢

مِنۡكُمۡ يُؤۡمِنُ بِاللّٰهِ وَالۡيَوۡمِ الۡاٰخِرِ‌ؕ ذٰلِكُمۡ اَزۡكٰى لَـكُمۡ وَاَطۡهَرُ‌ؕ وَاللّٰهُ يَعۡلَمُ وَاَنۡتُمۡ لَا تَعۡلَمُوۡنَ ﴿۲۳۲﴾

ဤပညတ်တော်ကား အသင်တို့အနက် အလ္လာဟ် အရှင်မြတ်ကိုငှင်း၊ နောက်ဆုံးနေ့ကိုငှင်း ယုံကြည်သောသူများအား သွန်သင်ဆုံးမအပ်သော ပညတ်တော်တည်း။ ဤ(ပညတ်တော်ကိုနာခံခြင်း) သည် အသင်တို့အတို့ အလွန်တရာမျှ အကျိုးဖြစ်ထွန်းစေသော၊ (အပြစ်ဒုစရိုက်တို့မှ) ပိုမို၍ သန့်ရှင်းစေသော ပညတ်တော်တည်း။ စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည် (အကျိုးဖြစ်ထွန်းစေမည့် အကြောင်းတရားတို့ကို) သိတော်မူ၏။ အသင်တို့မူကား မသိကြချေ။

وَالۡوَالِدٰتُ يُرۡضِعۡنَ اَوۡلَادَهُنَّ حَوۡلَيۡنِ كَامِلَيۡنِ‌ لِمَنۡ اَرَادَ اَنۡ

**၂၃၃။** ထို့ပြင် မိခင်တို့သည် (လင်ယောကျ်ားနှင့် ပြတ်စဲသည်ဖြစ်စေ၊ မပြတ်စဲသည်ဖြစ်စေ) မိမိတို့၏ သားသမီးများကို *၂-နှစ်တိုင်တိုင် နို့ရည်တိုက်ကျွေးကြရမည်။* [1] (ဤအမိန့်တော်သည် ရက်ပိုင်းစေ့အောင် နို့ရည်တိုက်ကျွေးလိုသောသူတို့အတို့ဖြစ်၏)။

➤➤ အစ်ဒ်ဒတ် ရက်ပိုင်းကုန်ဆုံးခါနီးသို့ ရောက်ရှိကြပြီ" ဟူသော အနက်ကိုဟောသည်။ (၂:၂၃၂)တွင်ပါရှိသော (فَبَلَغۡنَ اَجَلَهُنَّ)၏ အလိုသဘောမှာ "ထိုဇနီးမိန်းမတို့သည် မိမိတို့၏ အစ်ဒ်ဒတ်ရက်ပိုင်းအဆုံးသို့ ရောက်ရှိကြပြီဟူသော အနက်ကိုဟောသည်။ ကြည့်-အီဗ်နုလ်အရဗီ၊ ဂျဆ္စ္စာဆ္။

(၁) နို့စို့အရွယ်ကလေးသူငယ်တို့အတို့ မိခင်တို့၏ရင်၌ အလ္လာဟ်အရှင်မြတ် ဖန်တီးထားတော်မူသော နို့ရည်သည် အကောင်းဆုံးနှင့် တစ်ခုတည်းသော အာဟာရဖြစ်ပေသည်၊ ထို့အတွက်ကြောင့်လည်း မိခင်တို့သည် မိမိတို့၏ ရင်သွေးတို့ကို နို့တိုက်ကျွေးကြရမည်ဟူ၍ ကုရ်အာန်ကျမ်းမြတ်တွင် မိန့်ဆိုထားတော်မူခြင်းတည်း။

ဤမုက္ခပါဠ်တော်တွင် မိခင်များဟူသည် လင်ယောကျ်ားတို့နှင့် မပြတ်စဲသော ကလေးမိခင်များကိုငှင်း၊ လင်ယောကျ်ားတို့နှင့် ပြတ်စဲနေသော ကလေးမိခင်များကိုငှင်း ဆိုနိုင်ချေသည်။

မိခင်တို့သည် နို့စို့အရွယ် ကလေးသူငယ်တို့အား ၂-နှစ်အပြည့် နို့ တိုက်ကျွေး ကြရမည်ဟူ၍ အချိန်ကာလသတ်မှတ်ပေးခြင်းမှာ လူ့သဘာဝအလျောက် အားအင်နည်းနယ်သော ကလေးသူငယ်တို့၏ အားအင်ချည့်နဲ့မှုကို ထောက်ထားခြင်းပင်ဖြစ်သည်။ ဤအချိန်ကာလအတွင်း ကလေးသူငယ်တို့အတို့ နို့ရည်သည် အသင့်မြတ်ဆုံးသော အာဟာရပင်ဖြစ်ပေသည်။ နို့စို့ဘက်ဖြစ်၍ အချင်းချင်း ထိမ်းမြားပိုင်ခွင့်မရှိသော ပြဿနာသည်လည်း ဤအချိန်ကာလအတွင်း၌ဖြစ်ပေါ်သော နို့စို့ဘက်ဖြစ်ခြင်းအပေါ်၌ပင် တည်ရှိပေသည်။ ကြည့်-(အလ်မနာရ်)။

ကလေးများအား ၂-နှစ်ကျော်လွန်သည့်အခါ၌ နို့တိုက်ကျွေးခြင်းသည် ကလေးများ၏ ➤➤

يُّتِمَّ الرَّضَاعَةَ ۚ وَعَلَى
الْمَوْلُودِ لَهُ رِزْقُهُنَّ وَكِسْوَتُهُنَّ
بِالْمَعْرُوفِ ۚ لَا تُكَلَّفُ نَفْسٌ إِلَّا
وُسْعَهَا ۚ لَا تُضَارَّ وَالِدَةٌ
بِوَلَدِهَا وَلَا مَوْلُودٌ لَّهُ بِوَلَدِهِ ۚ
وَعَلَى الْوَارِثِ مِثْلُ ذَٰلِكَ ۗ فَإِنْ
أَرَادَا فِصَالًا عَن تَرَاضٍ
مِّنْهُمَا وَتَشَاوُرٍ فَلَا جُنَاحَ

ထို့ပြင် (ကလေး၏) ဘခင်အပေါ်၌ (နို့ရည်တိုက်ကျွေးသော ကာလပရိစ္ဆေဒ ရက်ပိုင်းစေ့သည့်တိုင်အောင်) *ထိုမိခင်တို့၏ စားနပ်ရိက္ခာနှင့်တကွ ဝတ်စားတန်ဆာကို တရားစည်းမျဉ်းနှင့် အညီ (စီမံပေးရန်) တာဝန်ရှိပေသည်။* [၁] (သို့ရာတွင်) မည်သူ တစ်ဦးတစ်ယောက်မျှ *မိမိတတ်စွမ်းနိုင်သည်ထက် ပို၍ တာဝန်ထမ်းဆောင်စေခြင်းကို မခံရချေ။* [၂] (သို့ဖြစ်လေရာ) မည်သည့်မိခင်မျှ မိမိသားသမီးအတွက်ကြောင့် မနစ်နာစေရ၊ မည်သည့်ဘခင်မျှလည်း မိမိသားသမီးအတွက်ကြောင့် မနစ်နာစေရ။ (သေဆုံးသည့်အခါ၌) *အမွေစားအမွေခံများအပေါ်၌ ထိုကဲ့သို့ပင် (မိခင်၏စားနပ်ရိက္ခာနှင့်ဝတ်စားတန်ဆာများကို စီမံပေးရန်)တာဝန်ရှိ၏။* [၃]

➤➤ ခန္ဓာကိုယ်ကိုသော်၎င်း၊ အသိဉာဏ်ကိုသော်၎င်း၊ ထိခိုက်စေတတ်သည်။ ကြည့်ပါ-(အီဗ်နုကဆီရ်)။

ကလေးသူငယ်တို့အား နို့တိုက်ကျွေးရမည့် အချိန်ကာလ အပိုင်းအခြားနှင့် စပ်လျဉ်း၍ အေမာမ်အဗူဟာနီဖဟ် သခင်က လပေါင်း ၃၀-ဟူ၍၎င်း၊ အေမာမ်ဇုဖရ်သခင်က ၃-နှစ်ဟူ၍၎င်း၊ အေမာမ်မုဟမ္မဒ်၊ အေမာမ်အဗူယူစုဖ်နှင့် အေမာမ်ရှာဖိအီသခင်တို့ကမူ ၂-နှစ်ဟူ၍၎င်း အသီးသီးဆိုကြကုန်၏။

ဖော်ပြပါ အဆိုသုံးရပ်အနက် တတိယအဆိုသည် အများမွတ်စ်လင်မ် သုခမိန်တို့၏အဆိုဖြစ်၏။ အမှန်ဆုံးပင်ဖြစ်၏၊ ဓမ္မသတ် ဆုံးဖြတ်ချက်သည်လည်း ထိုအဆို အတိုင်းပင်ဖြစ်၏။ ကြည့်-(ဖတ်ဟုလ်ကဒီရ်)။

(၁) ကလေးများကို နို့ရည်တိုက်ကျွေးခြင်းသည် မိခင်တို့၏ တာဝန်တစ်ရပ်ဖြစ်၏၊ ကလေးများကို နို့ရည်တိုက်ကျွေးသော ကလေးမိခင်တို့၏ စားသောက်ဝတ်ဆင်မှုတို့ကို စီမံခန့်ခွဲပေးခြင်းသည် ဘခင်ဖြစ်သူတို့၏ တာဝန်တစ်ရပ်ဖြစ်၏၊ ဤသို့ တာဝန်ခွဲပေးခြင်းသည် သဘာဝဓမ္မနှင့် ကိုက်ညီလှပေသည်။

(၂) "ဝန်နှင့်အား၊ မြွားနှင့်လေး" ဆိုသကဲ့သို့ မိခင်ဘခင်တို့သည် မိမိတို့၏ကလေးများနှင့်စပ်လျဉ်း၍ ထမ်းဆောင်နိုင်သော တာဝန်များကို အသီးသီးထမ်းဆောင်ကြရပေမည်။ ထမ်းဆောင်နိုင်သည်ထက် ပိုမို၍ကား မည်သူ တစ်ဦးတစ်ယောက်ကိုမျှ တာဝန်မပေးရချေ။ မိဘ ၂-ပါးတို့ အချင်းချင်း လိုက်နာပြုစုအပ်သည့် တာဝန်များကို ကုရ်အာန်ကျမ်းမြတ် (၆၅:၆-၇)တွင်လည်း ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။

(၃) ဘခင်ကွယ်လွန် သေဆုံးပြီးသည့်နောက် ကလေး၏ မွေးမြူစရိတ်သည် အမွေစား အမွေခံတို့၏ တာဝန်ဖြစ်သည်ဟူ၍ ကုရ်အာန်ကျမ်းမြတ်တွင် ဓမ္မဒိဋ္ဌာန်အားဖြင့် မိန့်ဆိုထားသည်။

"အမွေစား အမွေခံ" ဟူသောစကား၏ အလိုသဘောကို ကုရ်အာန်ကျမ်းတတ်ပါရဂူတို့သည်

(၁) ဘခင်၏အမွေစား အမွေခံ၊ တနည်း ကလေးကိုပင် ဆိုလိုသည်ဟူ၍၎င်း၊

(၂) မိဘနှစ်ပါးတို့အနက် ကျန်ရစ်ခဲ့သောသူကို ဆိုလိုသည်ဟူ၍၎င်း၊ ➤➤

عَلَيْهِمَا ۗ وَإِنْ أَرَدتُّمْ أَن تَسْتَرْضِعُوٓا۟ أَوْلَٰدَكُمْ فَلَا جُنَاحَ عَلَيْكُمْ إِذَا سَلَّمْتُم مَّآ ءَاتَيْتُم بِٱلْمَعْرُوفِ ۗ وَٱتَّقُوا۟ ٱللَّهَ

ထို့နောက် အကယ်၍ မိဘနှစ်ပါးတို့သည် (ကလေး၏ အကျိုးငှာ) မိမိတို့ အချင်းချင်း တိုင်ပင်ဆွေးနွေး၍ နှစ်ဦး နှစ်ဘက် သဘော တူညီချက်ဖြင့် (နှစ်နှစ် မစေ့ရောက်မီ) နို့ဖြတ် လိုပါက (နို့ဖြတ်နိုင်ခွင့် ရှိသည်)၊ ထိုသို့ (နို့ ဖြတ်သည့်အတွက်) ထိုမိဘနှစ်ပါး အပေါ်ဝယ် မည်သို့မျှ အပြစ်မရှိချေ။

---



(၃) ကလေး၏ အမွေစားအမွေခံများကို ဆိုလိုသည်ဟူ၍၎င်း၊

(၄) ထိုကလေး၏ "မဟ်ရမ်" ဖြစ်သော အမွေစားအမွေခံတို့ကို ဆိုလိုသည်ဟူ၍၎င်း၊

(၅) ထိုကလေး၏ "အဆ္ဗဟ်" မည်တွင်သော ဆွေမျိုးသားချင်းတို့ကို ဆိုလိုသည်ဟူ၍၎င်း အသီးသီးမိန့်ဆိုကြကုန်သည်။

ဖော်ပြပါအဆိုများအနက် စတုတ္ထအဆိုနှင့်စပ်လျဉ်း၍ မောင်လာနာထာနဝီသခင်က အောက်ပါအတိုင်း ရေးသားဖော်ပြထားသည်။

"ကလေး၏ဘခင် အသက်ထင်ရှားရှိသမျှကာလပတ်လုံး ကလေး၏မွေးမြူစရိတ်သည် ဘခင်၏ တာဝန်သာလျှင် ဖြစ်သည်။ အကယ်၍ ဘခင်သေဆုံးခဲ့လျှင် ကလေး၏ မွေးမြူစရိတ်မှာ အောက်ပါအတိုင်း ဖြစ်သည်။

အကယ်၍ကလေး၌ ပစ္စည်းဥစ္စာရှိလျှင် ထိုကလေး၏ပစ္စည်းမှ ထိုကလေး၏ မွေးမြူစရိတ်ကို သုံးစွဲရမည်၊ အကယ်၍ကလေးမှာ ပစ္စည်းမရှိလျှင် ထိုကလေး၏မွေးမြူစရိတ်ကို ထိုကလေး၏ ဆွေမျိုးတို့အနက် ကြွယ်ဝသော "မဟ်ရမ်" ဖြစ်သော "ရှရီအတ်" တရားတော်နှင့်အညီ အမွေစားအမွေခံဖြစ်သော ဆွေမျိုးသားချင်းတို့က ထမ်းဆောင်ကြရမည်။

ထိုအမွေစား အမွေခံတို့တွင် မိခင်လည်းအပါအဝင်ဖြစ်၏။ ဥပမာ ကလေးတစ်ယောက်၌ မိခင်ရှိ၏။ ဘိုးအေ (ဘခင်၏ဘခင်) ရှိ၏၊ သို့ဖြစ်လျှင် ထိုကလေး၏ မွေးမြူစရိတ်ကို မိခင်သည် သုံးပုံတစ်ပုံ ထမ်းဆောင်ရမည်၊ ဘိုးအေသည် သုံးပုံနှစ်ပုံ ထမ်းဆောင်ရမည်။

အဘယ်ကြောင့်ဟူမူ ထိုဘိုးအေနှင့်မိခင်တို့သည် "မဟ်ရမ်" များလည်းဖြစ်ကြ၏၊ ထိုကလေး၏ အမွေကိုလည်း ဖော်ပြပါ အချိုးအတိုင်း ရရှိနိုင်သော အမွေစားအမွေခံများဖြစ်ကြသောကြောင့်တည်း။

**ဖော်ပြချက်။**

"မဟ်ရမ်" ဟူသည်ကား အကြင်ဆွေမျိုး ၂-ဦးတို့တွင် သွေးစပ်မှုကား ဤသို့ရှိအံ့၊ အကယ်၍ ထိုသူ ၂-ဦးတို့အနက် တစ်ဦးကို ယောကျ်ားဟူ၍၎င်း အခြားတဦးကိုမိန်းမဟူ၍၎င်း ယူမှတ်ခဲ့သည်ရှိသော် ထိုသူ ၂-ဦးတို့တွင် အချင်းချင်း ထိမ်းမြားပိုင်ခွင့်ကား အလျှင်းမရှိချေ၊ ယင်းသို့သွေးစပ်၍ အချင်းချင်း ထိမ်းမြားပိုင်ခွင့်မရှိသော ဆွေမျိုးတို့ကို "မဟ်ရမ်" ဟူ၍ခေါ်သည်။

وَاعْلَمُوْٓا اَنَّ اللّٰهَ بِمَا تَعْمَلُوْنَ بَصِيْرٌ ﴿٢٣٣﴾

ထိုနည်းတူစွာ အကယ်၍ အသင်တို့သည် မိမိတို့၏ သားသမီးများကို (နို့ထိမ်းသည်တဦးဦး အားငှားရမ်း၍) နို့ရည်တိုက်ကျွေးစေလိုကလည်း အသင်တို့သည် (နို့ထိမ်းသည်အား) ပေးရန်ရှိသည့် အခကြေးငွေများကို တရားစည်းကမ်းနှင့် အညီ ပေးဆပ်ခဲ့ကြသည်ရှိသော် အသင်တို့၌ မည်သို့မျှ အပြစ်မရှိချေ။ [၁] ၎င်းပြင် အသင်တို့သည် အလ္လာဟ် *အရှင်မြတ်ကို ကြောက်ရွံ့ကြကုန်။* [၂] ထို့ပြင် ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ပြုလုပ်သမျှသော ကိစ္စအရပ်ရပ်တို့ကို အကြွင်းမဲ့ ခွဲခြားသိမြင်တော်မူသောအရှင် ဖြစ်တော်မူကြောင်း ကိုလည်း (ကောင်းစွာ) သိနားလည်ကြကုန်။

وَالَّذِيْنَ يُتَوَفَّوْنَ مِنْكُمْ وَيَذَرُوْنَ اَزْوَاجًا يَّتَرَبَّصْنَ بِاَنْفُسِهِنَّ اَرْبَعَةَ اَشْهُرٍ

၂၃၄။ ထို့ပြင် အသင်တို့အနက် အကြင်သူတို့သည် ကွယ်လွန်သေဆုံးကြကုန်၏။ ထို့ပြင် ဇနီးမိန်းမများကို ချန်ရစ်ခဲ့ကြ၏။ ထိုဇနီးမိန်းမသည် ၄-လနှင့် ၁၀-ရက်တိုင်တိုင် [၃] (အိမ်ထောင်သစ်ပြုခြင်းမှ) မိမိတို့ ကိုယ်ကို ဆိုင်းငံ့၍ထားကြရမည်။

---

(၁) ကုရ်အာန်ကျမ်းလာ ( اِذَا سَلَّمْتُمْ مَّآ اٰتَيْتُمْ بِالْمَعْرُوْفِ ) ဟူသောမုကွပါဌ်တော်နှင့် စပ်လျဉ်း၍ မောင်လာနာ မဟ်မူဒုလ်ဟစနက မိမိကျမ်းတွင် အောက်ပါအတိုင်း ရေးသားဖော်ပြထားသည်။

ဆိုလိုရင်းသဘောကား အို-ယောကျာ်းတို့၊ အသင်တို့သည် အရေးကြီးသော အချက်အလက်၊ အကျိုးကျေးဇူး တခုခုကြောင့် (ကလေးအား) မိခင်ဖြစ်သူ၏ နို့ရည်မတိုက်ကျွေးဘဲ အခြား နို့ထိန်းသည်တစ်ဦး၏ နို့ရည်ကို တိုက်ကျွေးလိုကြလျှင် (တိုက်ကျွေးနိုင်ကြပေသည်)၊ ဤသို့ပြုမူသည့်အတွက် အသင်တို့၌ အပြစ်မရှိချေ၊ သို့ရာတွင် ထိုသို့ပြုမူသည့်အတွက် မိခင်၏အခွင့်အလမ်းများကိုမူ မနစ်နာစေရ၊ မိခင်အားပေးဆပ်ရန်ရှိသည်များကို တရားတော်နှင့်အညီ ပေးဆပ်ကြရပေမည်။ ထို့ပြင် အဆိုပါမုကွပါဌ်တော်၏ အလိုသဘောမှာ နို့ထိန်းသည်၏ အခွင့်အလမ်းများကို မနစ်နာစေရဟူ၍လည်း တနည်း အဓိပ္ပါယ် ကောက်ယူနိုင်ပေသည်။

(၂) လူသားတို့သည် အလ္လာဟ်အရှင်မြတ်ကို မေ့လျော့တတ်ကြ၏။ အလ္လာဟ်အရှင်မြတ်ကို မေ့သည်နှင့်အမျှ ဒုစရိုက်မှုများကိုလည်း ကျူးလွန်တတ်ကြ၏၊ သို့အတွက်ကြောင့်ပင် ကုရ်အာန်ကျမ်းမြတ်တွင် "အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့ကြကုန်၊ ဧကန်မုချ အလ္လာဟ် အရှင်မြတ်သည် အသင်တို့ ပြုလုပ်သမျှကို အကြွင်းမဲ့ သိမြင်တော်မူသော အရှင်ဖြစ်တော်မူသည်ကိုလည်း သိနားလည်ကြကုန်" ဟူ၍ ➤➤

وَّعَشۡرًا ۚ فَاِذَا بَلَغۡنَ اَجَلَهُنَّ فَلَا جُنَاحَ عَلَيۡكُمۡ فِيۡمَا فَعَلۡنَ فِىۡۤ اَنۡفُسِهِنَّ بِالۡمَعۡرُوۡفِ ؕ وَاللّٰهُ بِمَا تَعۡمَلُوۡنَ خَبِيۡرٌ ﴿۲۳۴﴾

ထို့ပြင် ထိုဇနီးမိန်းမများသည် မိမိတို့၏ (အစ်ဒ်ဒတ်) သတ်မှတ်ထားသော ရက်ပိုင်းကာလ ပရိစ္ဆေဒအဆုံးသို့ ရောက်ရှိသောအခါ မိမိတို့ ကိုယ်ရေးနှင့်ပတ်သက်၍ တရားစည်းကမ်းနှင့်အညီ ပြုလုပ်တတ်ကြသောကိစ္စ (အိမ်ထောင်သစ်ပြုခြင်း၊ ဖြီးလိမ်းခြင်းစသည်တို့)တွင် အသင်တို့၌ တစုံတရာမျှအပြစ်မရှိချေ။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ပြုလုပ်သမျှသောကိစ္စအရပ်ရပ်ကို အကြွင်းမဲ့ ကြားသိတော်မူသောအရှင် ဖြစ်တော်မူသတည်း။

---

➤➤ အကြိမ်ကြိမ် အခါခါ သတိပေး နှိုးဆော်ထားတော်မူ၏။ အလ္လာဟ်အရှင်မြတ်အား ရှိသေမြတ်နိုး၍ အမြဲတစေ သတိရနေသောသူတစ်ဦးသည် ဒုစရိုက်မှုများကို အဘယ်မှာလျှင် ကျူးလွန်ဝံ့တော့အံ့နည်း။

(၃) ကွာရှင်းခြင်းခံရသော ဇနီးမိန်းမတို့၏ "အစ်ဒ်ဒတ်" ကာလ ပရိစ္ဆေဒသည် ၃-လဖြစ်၏၊ မုဆိုးမတို့၏ "အစ်ဒ်ဒတ်" ကာလ ပရိစ္ဆေဒသည် ၄-လနှင့် ၁၀-ရက်ဖြစ်၏။ အကယ်၍ ကွာရှင်းခြင်းခံရသောဇနီးမိန်းမများနှင့် မုဆိုးမများသည် ကိုယ်ဝန်ဆောင်သော သူများဖြစ်ကြပါလျှင် ထိုသူမတို့၏ "အစ်ဒ်ဒတ်" ကာလပရိစ္ဆေဒမှာ ကလေးမွေးဖွားသည်အထိ ဖြစ်သည်။

**ဖော်ပြချက်။**

"အိုင်ယာမေ့ဂျာဟိလီယတ်" အမိုက်ခေတ်တွင် အရဗ်လူမျိုးတို့သည် အမျိုးသမီးတို့အား အမျိုးမျိုး ချုပ်ချယ်ဖိနှိပ်ခဲ့ကြ၏။ အမိုက်ခေတ်တွင် မုဆိုးမတို့သည် လင်သေသည့်နေ့မှစ၍ တစ်နှစ်တိုင်တိုင် အိမ်တွင်းရှိ မှောင်သော အခန်းငယ်တစ်ခုတွင် နေထိုင်ကြရ၏။ အလွန့်အလွန် ဟောင်းနွမ်းရှိဆွေးသော အဝတ်အစားများကို ဝတ်ဆင်ကြရ၏၊ ထိုအချိန်တွင် ဖြီးလိမ်းခြင်း၊ ဆံသခြင်း၊ လက်သည်း ခြေသည်းလှီးခြင်းများ မပြုလုပ်ရ၊ လူအများ စုဝေးရာဌာနသို့ သွားလာဝင်ထွက်ခြင်းလည်း မပြုကြရ၊ တစ်နှစ်စေ့သောအခါ မုဆိုးမတို့သည် အလွန်ဆိုးရွားလှသော ရုပ်ဆင်းသဏ္ဍာန်ဖြင့် ထိုအခန်းမှထွက်ကြရ၏၊ သို့ထွက်လာပြီး မိမိတို့ရှေ့မှောက်၌ရှိသော ခွေး၊ ငှက် . . . အစရှိသော တိရစ္ဆာန်များကို ကုလားအုဋ်၊ မြင်း၊ သိုး၊ ဆိတ် . . . စသည်တို့၏ မစင်များဖြင့် နိမိတ်အမျိုးမျိုးကောက်ယူကာ ပစ်ပေါက်ကြရ၏။

ဖော်ပြပါအတိုင်း လင်သေသည့်နေ့မှစ၍ တစ်နှစ်တိုင်တိုင် မုဆိုးမတို့ နေထိုင်ရေးနှင့် စပ်လျဉ်း၍ အရဗ်လူမျိုးတို့ ပြုလုပ်ထားသော ထုံးတမ်းစဉ်လာများနှင့် စည်းကမ်းချက်များသည် ဆိုးရွားလှ၏၊ မုဆိုးမတို့အား မတရားသဖြင့် ဖိနှိပ်ချုပ်ချယ်ခြင်း၊ ညှဉ်းပန်းနှိပ်စက်ခြင်းမျှဖြစ်၏၊ ဆိုးရွားလှ၏၊ ထို့အတွက်ကြောင့် အစ္စလာမ်သာသနာတော်က ထိုမတရားချုပ်ချယ်မှုများကို ပယ်ဖျက်ပြီး မုဆိုးမတို့အဘို့ တစ်နှစ်အစား ၄-လနှင့် ၁၀-ရက်၊ ကိုယ်ဝန်ဆောင်ရှိသော မုဆိုးမများအဘို့ ကလေးမျက်နှာမြင်သည်အထိမျှသာ "အစ်ဒ်ဒတ်" အဖြစ် သတ်မှတ်၍ ပေးထားလေသည်။

အစ္စလာမ်တရားတော်အရ မုဆိုးမတို့သည် "အစ်ဒ်ဒတ်" အတွင်း အလှအပ ပြင်ဆင်ဖြီးလိမ်းခြင်း၊ ➤➤

وَلَا جُنَاحَ عَلَيْكُمْ فِيمَا عَرَّضْتُم بِهِۦ مِنْ خِطْبَةِ ٱلنِّسَآءِ أَوْ أَكْنَنتُمْ فِىٓ أَنفُسِكُمْ ۚ عَلِمَ ٱللَّهُ أَنَّكُمْ سَتَذْكُرُونَهُنَّ وَلَٰكِن لَّا تُوَاعِدُوهُنَّ سِرًّا إِلَّآ أَن تَقُولُوا۟ قَوْلًا مَّعْرُوفًا ۚ وَلَا تَعْزِمُوا۟ عُقْدَةَ ٱلنِّكَاحِ حَتَّىٰ يَبْلُغَ ٱلْكِتَٰبُ أَجَلَهُۥ ۚ وَٱعْلَمُوٓا۟ أَنَّ ٱللَّهَ يَعْلَمُ مَا فِىٓ أَنفُسِكُمْ فَٱحْذَرُوهُ ۚ وَٱعْلَمُوٓا۟ أَنَّ ٱللَّهَ غَفُورٌ حَلِيمٌ ﴿٢٣٥﴾

၂၃၅။ ထို့ပြင်တဝ ("အစ်ဒ်ဒတ်" အတွင်းရှိနေသော) မုဆိုးမများအား(ထိမ်းမြားရန်) စေ့စပ်ကြောင်းလမ်းခြင်းနှင့်စပ်လျဉ်း၍ စကားရိပ်စကားမြွက် ပြောဆိုခြင်း၌ဖြစ်စေ၊ သို့တည်းမဟုတ် (ထိမ်းမြားလိုသောဆန္ဒကို) မိမိတို့စိတ်နှလုံးများတွင် လျှို့ဝှက်မျိုသိပ်ထားခြင်း၌ဖြစ်စေ၊ အသင်တို့အပေါ်ဝယ် တစုံတရာမျှ အပြစ်မရှိချေ။

အသင်တို့သည် မကြာမြင့်မီ ယင်းမိန်းမများ၏အကြောင်းကို ထုတ်ဖော်ပြောဆိုကြမည် ကို အလ္လာဟ်အရှင်မြတ်သည် သိပြီးဖြစ်တော်မူသည်။ သို့ရာတွင် အသင်တို့သည် (စကားရိပ်အားဖြင့်) ယဉ်ကျေးသိမ်မွေ့စွာ စကားပြောဆိုခြင်းမှ အပ (ထိမ်းမြားရန်အကြောင်းနှင့်စပ်လျဉ်း၍) ထိုမိန်းမများနှင့် တီးတိုးလျှို့ဝှက်စွာမျှပင် ကတိမပြုကြကုန်လင့်။

ၡင်းပြင် အသင်တို့သည် (ထိုမိန်းမများအတွက်) ပြဋ္ဌာန်းပြီးဖြစ်သော (အစ်ဒ်ဒတ်) ရက်ပိုင်းကာလ ပရိစ္ဆေဒမကုန်ဆုံးမီ ထိမ်းမြားခြင်းတည်းဟူသော မင်္ဂလာအထုံးအဖွဲ့ကို အတည်မဖွဲ့ကြကုန်လင့်။ ထိုမှတပါး အသင်တို့၏စိတ်တွင် (မျိုသိပ် ထားရှိသော) အကြောင်းအရာ ခပ်သိမ်းတို့ကို အလ္လာဟ်အရှင်မြတ်သည် ဧကန်အမှန် သိရှိတော်မူသည်ကို ယုံကြည်မှတ်ယူကြ၍ ထိုအရှင်မြတ်အား ကြောက်ရွံ့ကြကုန်လော့။

➤➤ အမွေးအကြိုင် လိမ်းကျံခြင်း၊ လှပသော ဝတ်စားတန်ဆာ ဝတ်ဆင်ခြင်း၊ အကြောင်းမဲ့ အိမ်ပြင်ထွက်ခြင်း၊ ထိမ်းမြားရန် ကတိပြုခြင်းများ မပြုကြရချေ။ "အစ်ဒ်ဒတ်" ကာလ ပရိစ္ဆေဒ ကုန်ဆုံးသွားသောအခါ၌မူ ထိုမုဆိုးမတို့သည် အခြားအမျိုးသမီးများနည်းတူ မိမိတို့၏ ကိုယ်ရေးကိုယ်တာများကို တရားတော်နှင့်အညီ လွတ်လပ်စွာ ပြုလုပ်နိုင်ကြပေသည်။ ဤကား မုဆိုးမများ ခေတ်မရွေး ဌာနမရွေး လွယ်လင့်တကူ လိုက်နာကျင့်သုံးနိုင်သော လူ့သဘာဝနှင့်ကိုက်ညီသော စည်းကမ်းချက်များတည်း။ ကြည့်-အလ်မနာရ်။

ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် (အပြစ်များမှ) အကြိမ်ကြိမ် လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ ဆိုင်းငံ့ ထောက်ထားတော်မူသောအရှင်၊ ဖြစ်တော်မူသည်ကိုလည်း ယုံကြည်မှတ်ယူကြကုန်လော့။

**၂၃၆။** အကယ်၍ အသင်တို့သည် ဇနီးမိန်းမများ အား *မထိတွေ့ကြမီသော်၎င်း၊* [၁] ထိုမိန်းမများအတွက် သတ်မှတ်ထားသော မဟ်ရ်ပစ္စည်း (မည်ရွေ့မည်မျှ ပေးမည်ဟူ၍) သတ်မှတ်ပြဋ္ဌာန်းခြင်း မပြုကြမီ သော်၎င်း၊ ကွာရှင်းခဲ့ကြပါလျှင် အသင်တို့၌မည်သို့မျှ အပြစ်မရှိချေ။ သို့ရာတွင် (ဤသို့ပြုခြင်းအားဖြင့် ယင်းမိန်းမတို့၌ နစ်နာဘွယ်ရာအကြောင်းရှိသဖြင့်) အသင်တို့သည် ထိုမိန်းမတို့အား တရားစည်းကမ်းနှင့်အညီ *အကျိုးကျေးဇူး ဖြစ်ထွန်းစေကြရမည်။* [၂] ဥစ္စာပစ္စည်းကုံလုံကြွယ်ဝသူအပေါ်၌ မိမိတတ်စွမ်းနိုင်သည့်အလျောက် သူဆင်းရဲအပေါ်၌လည်း မိမိတတ်စွမ်းနိုင်သည့်အလျောက် အကျိုးဖြစ်ထွန်းစေရန် တာဝန်ရှိသည်၊ ဤကား ကောင်းကျိုး မင်္ဂလာပွားများသောသူများ အပေါ်၌ တာဝန်တစ်ရပ်ပင် ဖြစ်ပေသည်။

لَا جُنَاحَ عَلَيْكُمْ إِن طَلَّقْتُمُ النِّسَاءَ مَا لَمْ تَمَسُّوهُنَّ أَوْ تَفْرِضُوا لَهُنَّ فَرِيضَةً ۚ وَمَتِّعُوهُنَّ عَلَى الْمُوسِعِ قَدَرُهُ وَعَلَى الْمُقْتِرِ قَدَرُهُ مَتَاعًا بِالْمَعْرُوفِ ۖ حَقًّا عَلَى الْمُحْسِنِينَ ﴿٢٣٦﴾

---

(၁) "အသင်တို့သည် ဇနီးမိန်းမများအား မတွေ့ထိကြသမျှ ကာလပတ်လုံး" ဟူသော မုကဒ္ဒပါဠ်တော်၌ တွေ့ထိခြင်းဟူသည် မေထုန်သံဝါသပြုခြင်းကို ဆိုလိုသည်။ အကြင်လင်မယား နှစ်ဦးတို့အတူ မေထုန်သံဝါသ ပြုနိုင်လောက်သော လွတ်လပ်မှုရရှိခြင်းသည်လည်း မေထုန်သံဝါသပြုခြင်း၏ အမိန့်တွင် အကျုံးဝင်ပေသည်။

ထိမ်းမြားပြီးနောက် အကြင်ဇနီးမောင်နှံနှစ်ဦးတို့သည် မေထုန်မှီဝဲခြင်းအမှု မပြုကြမီ အလျင်ပြတ်စဲသွားကြသည်ရှိသော် ဇနီးမိန်းမအပေါ်၌ "အစ်ဒ်ဒတ်" ကာလ ပရိဆ္ဆေဒစောင့်ဆိုင်းရန် တာဝန်မရှိပေ။ ကြည့်–ကုရ်အာန်(၃၃း၄၉)။

(၂) ဇနီးမိန်းမတို့အား အကျိုးကျေးဇူးဖြစ်ထွန်းစေသော အရာကို "မွတ္တအဟ်" ဟူ၍ခေါ်သည်။

"မွတ္တအဟ်" များအနက် အနည်းဆုံးသော "မွတ္တအဟ်" သည် "ဒိရ်ဟမ်" သုံးဆယ်ဖြစ်သည်။ ဤကား သာဝကကြီး အဗ်ဒုလ္လာဟ် အီဗ်နုအုမရ်၏ အဆိုတည်း။ (ရှုဟုလ်မအာနီ) ➤➤

وَإِنْ طَلَّقْتُمُوهُنَّ مِنْ قَبْلِ أَنْ تَمَسُّوهُنَّ وَقَدْ فَرَضْتُمْ لَهُنَّ فَرِيضَةً فَنِصْفُ مَا فَرَضْتُمْ إِلَّا أَنْ يَعْفُونَ أَوْ يَعْفُوَا الَّذِي بِيَدِهِ عُقْدَةُ النِّكَاحِ ۚ وَأَنْ تَعْفُوا أَقْرَبُ لِلتَّقْوَىٰ ۚ وَلَا تَنْسَوُا الْفَضْلَ بَيْنَكُمْ ۚ إِنَّ اللَّهَ بِمَا تَعْمَلُونَ بَصِيرٌ ﴿٢٣٧﴾

၂၃၇။ တဖန် အကယ်၍ အသင်တို့သည် ထိုဇနီးမိန်းမတို့အကို တစုံတခုသော မဟ်ရ်ပစ္စည်းကို သတ်မှတ်အတည်ပြုခဲ့ပြီးလျှင် ထိုဇနီးမိန်းမတို့အား အသင်တို့ မတွေ့ထိမီကပင် ကွာရှင်းခဲ့ကြသည်ရှိသော် မိမိတို့သတ်မှတ်ခဲ့သော မဟ်ရ်ပစ္စည်း၏ ထက်ဝက် (ကိုသာပေးဆပ်ကြရမည်) ဖြစ်သည်။ သို့ရာတွင် ထိုဇနီးမိန်းမများသည် (မိမိတို့ရသင့်သော မဟ်ရ်ပစ္စည်းထက်ဝက်ကို) ခွင့်လွှတ်ကြပါမူ (ထိုမဟ်ရ်ပစ္စည်းထက်ဝက်ကိုပင် ပေးဆပ်ရန် လင်ယောကျ်ားတို့၌တာဝန်မရှိပေ)၊ သို့တည်းမဟုတ် ထိမ်းမြားခြင်း၏ အနှောင်အဖွဲ့ကို ပိုင်ဆိုင်သော လင်ယောကျ်ားက (မိမိ၌ ပေးဆပ်ရန် တာဝန်ရှိသော မဟ်ရ်ပစ္စည်း ထက်ဝက် အပြင် မိမိပြန်လည် သိမ်းပိုက်ထားနိုင်ခွင့် ရှိသော ကျန်ထက်ဝက်ကိုပါ) ခွင့်လွှတ်(၍ မဟ်ရ် ပစ္စည်း အားလုံးကို အကျေအပြွန်ပေးဆပ်) ပါမူ (ပေးဆပ်နိုင်ပေသည်)။

အမှန်စင်စစ် အသင်တို့၏ ခွင့်လွှတ်ခြင်းသည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ခြင်းတည်း ဟူသော "တာက္ကဝါ" တရားနှင့် ပိုမို၍ပင် နီးစပ် လှပေသည်။ ထို့ပြင် အသင်တို့သည် မိမိတို့ အချင်းချင်း ကျေးဇူးပြုခြင်းကို မမေ့မလျော့ ကြကုန်လင့်။ အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ပြုလုပ်သမျှသော ကိစ္စအရပ်ရပ်တို့ကို အကြွင်းမဲ့ သိတော်မူသောအရှင် ဖြစ်တော်မူသတည်း။

---

➤➤ "ဖုကဟာ" ဓမ္မသတ်ရှင်များကမူ "မွတ္တအဟ်" ၏ အနက်သဘောမှာ လူမျိုးအသီးသီးတို့သည် မိမိတို့တိုင်းပြည် ဒေသထုံးတမ်းစဉ်လာနှင့်အညီ ဝတ်ဆင်ကြသည့် အဝတ်သုံးထည်ပါသော ဝတ်စုံတစ်စုံ ဖြစ်သည်ဟူ၍ ဆိုကြကုန်သည်။ ကြည့်-အဗ်ဒုလ်မာဂျီဒ်။

حَافِظُوا عَلَى الصَّلَوٰتِ وَالصَّلَوٰةِ الْوُسْطَىٰ وَقُومُوا لِلَّهِ قَٰنِتِينَ ﴿٢٣٨﴾

၂၃၈။ အသင်တို့သည် (ယေဘုယျအားဖြင့်) အားလုံးသော ဆွလာတ်ဝတ်ပြုခြင်း တို့ကိုငင်း၊ (အထူးသဖြင့်) *အလယ်ဖြစ်သော "ဆွလာတ်" ဝတ်ပြုမှုကိုငင်း၊*[၁] စောင့်ရှောက်ထိန်းသိမ်းကြလေကုန်။ ထို့ပြင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်ဝယ် ဂါရဝတရားရှေ့ထား၍ ခဝပ်ရိုကျိုးသော *သူများအဖြစ်နှင့်*[၂] ရပ်ကြကုန်လော့။

---

(၁) ( الوسطى ) ဟူသော ပုဒ်၏အနက်မှာ အလယ်၌ရှိသောအရာဟူ၍ငင်း၊ အမြင့်မြတ်ဆုံးသော အရာဟူ၍ငင်း ဖြစ်သည်။

အလယ်၌ရှိသော ဆွလာတ်ဝတ်ပြုခြင်းကား အဘယ်ဆွလာတ်ဝတ်ပြုခြင်းကို ဆိုလိုသနည်း၊ ဤအကြောင်းနှင့် စပ်လျဉ်း၍ အလီ၊ အီဗ်နုအဗ္ဗါစ်၊ အီဗ်နုမာစ်အူဒ်၊ အဗူဟုရိုင်ရဟ် အစရှိသည့် သာဝကကြီးများကငင်း၊ ကတာဒဟ်၊ ဿွာဟ္ဟက်၊ အဗူဟနီဖဟ်၊ နခ်အီအစရှိသည့် ဓမ္မသတ်ရှင်များကငင်း၊ အလယ်၌ရှိသော ဆွလာတ်ဝတ်ပြုခြင်းဟူသည် 'ဆွလာတုလ် အဆွ်ရ်' ကို ဆိုလိုသည်ဟု မိန့်ဆိုကြကုန်၏။ အထက်တွင်ဖော်ပြပါပညာရှင်များနှင့် အချို့တန်းတူပညာရှင်များက အလယ်၌ရှိသော ဆွလာတ်ဝတ်ပြုခြင်းဟူသည် 'ဆွလာတ်ဇုဟ္ရ်' ဟူ၍ငင်း၊ 'ဆွလာတုလ်မဃ်ရိဗ်' ဟူ၍ငင်း၊ 'ဆွလာတုလ်အိရှာ' ဆိုလိုသည်ဟု မိန့်ဆိုကြကုန်၏။ အချို့ပညာရှင်များကမူ ဆွလာတ် ၅-ကြိမ်အနက် ဆွလာတ်တိုင်းသည် မိမိရှေ့နောက်ရှိ ဆွာလာတ်များနှင့် နှိုင်းစာလျှင် အလယ်၌ရှိသော ဆွလာတ်ဖြစ်နိုင်သည့်အတွက် ဓမ္မဓိဋ္ဌာန်နည်းအားဖြင့် ဆွလာတ်တိုင်းသည်ပင် အလယ်၌ရှိသောဆွလာတ်ဖြစ်သည်ဟုလည်း မိန့်ဆိုကြကုန်လေသည်။ ကြည့်-(မာဂျိဒီ)။

ဖော်ပြပါအဆိုသုံးရပ်အနက် ပဌမအဆိုသည် ပိုမိုသင့်မြတ်လှ၏။ မွတ်စ်လင်မ်တို့သည် "ခန်ဒါက်" စစ်မြေပြင်တွင် ကာဖိရ်များနှင့်စစ်ရေးပြိုင်ဆိုင်နေကြရသည့်အတွက် ဆွလာတုလ်အဆွ်ရ် ဝတ်ပြုရာတွင် ကြန့်ကြာသွားခဲ့ကြ၏။ ထိုအချိန်တွင်နဗီတမန်တော်မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က ထိုကာဖိရ်တို့သည် ငါတို့အား အလယ်၌ရှိသော ဆွလာတ် (ဝါ) ဆွလာတုလ် အဆွ်ရ် ဝတ်ပြုခြင်းမှ ကြန့်ကြာစေကြသည်ဟု မိန့်ဆိုတော်မူခဲ့လေသည်။ တမန်တော်မိန့်တော်မူသော အဆိုပါစကားကို ထောက်ရှုခြင်းအားဖြင့် အလယ်၌ရှိသော ဆွလာတ်ဝတ်ပြုခြင်းသည် ဆွလာတုလ် အဆွ်ရ်ကိုပင် ဆိုလိုကြောင်း ထင်ရှားလှတော့၏။

အလယ်၌ရှိသော ဆွလာတ်ဝတ်ပြုခြင်းနှင့် စပ်လျဉ်း၍ အီမာမ် ရှောင်ကာနီသခင်က ပညာရှင်တို့၏ အဆို(၁၈)ရပ် တိတိကို ထုတ်ဖော်ရေးသားထားသည်၊ အကျယ်ကို သိလိုက "နိုင်လုလ်အောင်တွာရ်" ကျမ်း၌ ရှုပါ။

(၂) "ကာနိတီန" ဟူသောစကားသည် "ကုနူတ်" ဟူသောမူရင်းပုဒ်မှဆင်းသက်လာသည်။ "ကုနူတ်" ဟူသော စကား၏ အနက် အဓိပ္ပါယ်ကား ကြွယ်ဝလှတော့၏။ ထိုစကားနှင့်စပ်လျဉ်း၍ အီဗ်နုလ်အရဗီက အောက်ပါအတိုင်း အဓိပ္ပါယ် (၁၀)ရပ်ကို ရေးသားဖော်ပြထားလေသည်။ (၁) ဆုမွန်တောင်းခြင်း၊ (၂) ကျိုးနွံခြင်း၊ (၃) ခဝပ်ကိုးကွယ်ခြင်း၊ (၄) အမိန့်နာခံခြင်း၊ (၅) ကျေးကျွန်ဖြစ်ကြောင်း ဝန်ခံခြင်း၊ (၆) ဆိတ်ငြိမ်ခြင်း။ (၇) ဆွလာတ် ဝတ်ပြုခြင်း၊ (၈) မတ်တတ် ရပ်ခြင်း၊ (၉) ကြာရှည်စွာ မတ်တတ် ရပ်ခြင်း၊ ➤➤

فَإِنْ خِفْتُمْ فَرِجَالًا أَوْ رُكْبَانًا ۚ فَإِذَا أَمِنتُمْ فَاذْكُرُوا اللَّهَ كَمَا عَلَّمَكُم مَّا لَمْ تَكُونُوا تَعْلَمُونَ ﴿٢٣٩﴾

၂၃၉။ သို့ရာတွင် အကယ်၍ အသင်တို့သည် (ရန်သူတို့၏ ဘေးရန်များကို) စိုးရိမ်မကင်း ဖြစ်ကြပါမူ *ခြေလျင်ဖြစ်စေ၊ (တစုံတခုသော အစီးအနင်းကို) စီးနင်းလျက်ဖြစ်စေ၊* [1] (ဖြစ်နိုင်သောနည်းဖြင့် ဆွလာတ် ဝတ်ပြုကြ လေကုန်)၊ ထို့နောက် အသင်တို့သည် ဘေးရန်ခပ်သိမ်း ကင်းငြိမ်း ကြသောအခါဝယ် အသင်တို့အား အသင်တို့ မသိနားမလည်စဉ်က သင်ကြား ပြသတော်မူသည့် အတိုင်း အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကို အောက်မေ့ တ,သ သတိရကြကုန်လော့။

وَالَّذِينَ يُتَوَفَّوْنَ مِنكُمْ وَيَذَرُونَ أَزْوَاجًا وَصِيَّةً لِّأَزْوَاجِهِم مَّتَاعًا إِلَى الْحَوْلِ غَيْرَ إِخْرَاجٍ ۚ فَإِنْ

၂၄၀။ ၎င်းပြင် အသင်တို့အနက် ဇနီးမိန်းမများကို ထားရှိခဲ့၍ ကွယ်လွန်သေဆုံးကြသော သူများသည် မိမိတို့၏ ဇနီးမိန်းမများအတွက် (နေအိမ်မှ) နှင်ထုတ်ခြင်းမပြုစေဘဲ တနှစ်ကာလပတ်လုံး (နေထိုင် စားသောက်မှုတို့ကို) အကျိုးခံစားခွင့် ရှိစေရန်အလို့ငှာ *(သေတမ်းစာရေးသား၍) မှာကြားခဲ့ကြရမည်။* [2]

---

➤➤ (၁၀) အမြဲတစေ အမိန့်နာခံခြင်း။ ကြည့်-(အလ်မနာရ်)။

**ဖော်ပြချက်။**

ဇိုက်ဒ် အိဗ်နအရ်ကမ်က ထုတ်ဖော်ပြောကြားသည်မှာ ကျွန်ုပ်တို့သည် တမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ လက်ထက်တော်တွင် ဆွလာတ် ဝတ်ပြုရာ၌ မိမိအနီး၌ ရှိသူများနှင့် စကားပြောဆိုလေ့ရှိကြ၏။ ( وَقُومُوا لِلَّهِ قَانِتِينَ ) ဟူသော မုကဒ္ဒပါဌ်တော် ကျရောက်လာသည့်အခါ၌မူ တမန်တော်က ကျွန်ုပ်တို့အား ဆွလာတ်ဝတ်ပြုရာတွင် စကားပြောဆိုခြင်းကို မြစ်တား၍ ဆိတ်ငြိမ်စွာနေရန် မိန့်တော်မူလေသည်။ ကြည့်-(ထာနဝီ)။

(၁) ရန်သူတို့၏ ဘေးရန်များကို စိုးရိမ်ကြောင့်ကြ၍ နေရသောအခါများ၌ မွတ်စ်လင်မ်တို့သည် ခြေလျင်ဖြစ်စေ၊ တစုံတခုသော အစီးအနင်းများကို စီးနင်းလျက်ဖြစ်စေ၊ ကစ်ဗ်လဟ်ဘက်သို့ မျက်နှာလှည့်သည်ဖြစ်စေ၊ မလှည့်သည်ဖြစ်စေ၊ ရကူအ်၊ စဂျ်ဒဟ် ပြုနိုင်သည်ဖြစ်စေ၊ မပြုနိုင်သည်ဖြစ်စေ- ဖြစ်နိုင်သောနည်းဖြင့် ဆွလာတ် ဝတ်ပြုကြရသည်။ ရန်သူတို့နှင့် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်နေသည့် အချိန်တွင် မည်သို့မည်ပုံ ဆွလာတ်ဝတ်ပြုရမည့် နည်းနိသျည်းများ “ဟိဒါယဟ်” အစရှိသည့် ကျမ်းများတွင် အတိအကျ ရေးသားဖော်ပြထားသည်ကို တွေ့ရှိနိုင်ပါသည်။ ဤတွင် ကျမ်းလေးမည်စိုး၍ မရေးတော့ပြီ။ ➤➤

خَرَجْنَ فَلَا جُنَاحَ عَلَيْكُمْ
فِيْ مَا فَعَلْنَ فِيْٓ اَنْفُسِهِنَّ
مِنْ مَّعْرُوْفٍ ؕ وَاللّٰهُ عَزِيْزٌ
حَكِيْمٌ ﴿٢٤٠﴾

သို့ရာတွင် ထိုဇနီးမိန်းမများသည် (အစ်ဒ္ဒတ်ကာလ ပရိစ္ဆေဒကုန်ဆုံးသွားသည့်အခါ နေအိမ်မှ) ထွက်ခွာသွားပြီး မိမိတို့ ကိုယ်ရေးကိုယ်တာနှင့်ပတ်သက်၍ တင့်တယ်လျောက်ပတ်သော ကိစ္စတရပ်ရပ်ကို ပြုလုပ်ကြပါမူ (အို-အုပ်ထိန်းသူအပေါင်းတို့) အသင်တို့၌ အပြစ်တစုံတရာမရှိချေ။ စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည် တန်ခိုးအာနုဘော်ဖြင့် နိုင်နင်းလွှမ်းမိုးတော်မူသောအရှင်၊ ထူးကဲသောအမြော်အမြင်နှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူသတည်း။

---

➤➤ ၂ တနှစ်တိုင်တိုင် မုဆိုးမများအား (လင်ယောကျ်ားတို့၏ အိမ်မှ) နှင်ထုတ်ခြင်း မပြုစေဘဲ ထိုမုဆိုးမများအတွက် တနှစ်တာကာလပတ်လုံး နေထိုင်စားသောက်မှုအကျိုးများ ခံစားနိုင်ရန်အလို့ငှာ လင်ယောကျ်ားတို့သည် သေတမ်းစကား မှာကြားခဲ့ကြရမည်ဟူသော မုက္ခပါဌ်တော်သည် မုဆိုးမများနှင့်စပ်လျဉ်း၍ အမွေခွဲတမ်းဆိုင်ရာ မုက္ခပါဌ်တော်များ မကျရောက်မီ အလျင်ထုတ်ပြန်ပို့ချတော်မူသော မုက္ခပါဌ်တော်ဖြစ်သည်။ ယခုမူ မုဆိုးမများ၏ အမွေခွဲတမ်းနှင့်စပ်လျဉ်း၍ မုက္ခပါဌ်တော်များ ကျရောက်လာပြီ ဖြစ်သဖြင့် မုဆိုးမများသည် လင်ယောကျ်ားများထံမှ မိမိတို့၏အမွေများကို အချိုးကျရရှိကြပေပြီ၊ သို့ဖြစ်၍ မုဆိုးများအတွက် သေတမ်းစကား မှာကြားခဲ့ကြရမည်ဟူသော မုက္ခပါဌ်တော်နှင့်အညီ လိုက်နာကျင့်သုံးရန် အကြောင်းမရှိတော့ပေ။ ဤသည်ကိုပင် မုဖာစ်စီရီန် အဋ္ဌကထာရှင်များ၏ ဝေါဟာရအသုံးအနှုန်းတွင် "နာစ်ခ်" အမိန့်တော်ပလပ်ခြင်းဟု ခေါ်သည်။

**ဖော်ပြချက်**

မုဆိုးမများ၏ အမွေခွဲတမ်းနှင့် စပ်လျဉ်းသော မုက္ခပါဌ်တော်များ မကျရောက်မီအလျင် အစ္စလာမ်သာသနာတွင် မုဆိုးမများကို အောက်ပါ အခွင့်အလမ်းများကို ပေးထားခဲ့၏။

(က) မုဆိုးမများသည် မိမိတို့၏ လင်ယောကျ်ား၏အိမ်တွင် တနှစ်တိတိ နေလိုကနေနိုင်ကြပေသည်၊ သို့နေထိုင်သည်ကို မည်သူတဦးမျှ မနှောင့်ယှက်နိုင်ပေ။

(ခ) မုဆိုးမများသည် ထိုတနှစ်အတွင်း မိမိတို့ ဝတ်ဆင်စားသောက်မှုအတွက် ကုန်ကျစရိတ်များကို မိမိတို့၏ လင်ယောကျ်ားတို့၏ ပစ္စည်းမှ ရရှိကြရပေမည်။

(ဂ) "အစ်ဒ်ဒတ်" ကာလ ပရိစ္ဆေဒကုန်ဆုံးသွားသည့်အခါတွင် မုဆိုးမများသည် မိမိတို့ဆန္ဒအလျောက် လင်သားတို့၏နေအိမ်မှ ရွှေ့ပြောင်းနေထိုင်လိုက နေထိုင်နိုင်ကြပေသည်။ အခြားအခွင့်အလမ်းများကဲ့သို့ ဤအခွင့်အလမ်းကို စွန့်လွှတ်လိုကလည်း စွန့်လွှတ်နိုင်ကြပေသည်။ ကြည့်-(မာဂျိဒီ)။

မုဆိုးမများအတွက် သေတမ်းစကား မှာကြားရမည်ဟူသော မုက္ခပါဌ်တော်သည် "မန်စူခ်" မုက္ခပါဌ်တော်ဖြစ်သည်ဟု အများမွတ်စ်လင်မ်ပညာရှင်တို့က ယူဆကြကုန်၏။

သို့ရာတွင် မုဂျာဟိဒ်နှင့်အဗူမွတ်စ်လင်မ်တို့ကမူ ထိုမုက္ခပါဌ်တော်သည် ပလပ်ထားသော မုက္ခပါဌ်တော်ဖြစ်သည်ဟူ၍မယူဆကြပေ။ ဤအကြောင်းနှင့်စပ်လျဉ်း၍ အကျယ်ကိုသိလိုက အလ်မနာရ်ကျမ်းတွင်ရှုပါ။

وَلِلْمُطَلَّقَاتِ مَتَاعٌ بِالْمَعْرُوفِ ۖ حَقًّا عَلَى الْمُتَّقِينَ ﴿٢٤١﴾

၂၄၁။ ထိုနည်းတူစွာ ကွာရှင်းပြီးဖြစ်သော မိန်းမများကိုလည်း ဓလေ့ထုံးစံအတိုင်း အကျိုးခံစားစေကြရမည်။ (ဤသည်ကား)အလ္လာဟ်အရှင်မြတ်ကိုကြောက်ရွံ့သော သူတော်စင်များ (လိုက်နာဆောင်ရွက်ရမည့်) တာဝန်တရပ်ဖြစ်ပေသည်။

كَذَٰلِكَ يُبَيِّنُ اللَّهُ لَكُمْ آيَاتِهِ لَعَلَّكُمْ تَعْقِلُونَ ﴿٢٤٢﴾

၂၄၂။ ဤနည်းနှင်နှင် အလ္လာဟ်အရှင်မြတ်သည် မိမိအမိန့်ပညတ်တော်များကို အသင်တို့ (လိုက်နာကျင့်သုံးနိုင်ရန်) အလို့ငှာ ရှင်းလင်း ထင်ရှားစွာ ထုတ်ဖော် မိန့်ကြားတော်မူလေသည်။ သို့မှသာလျှင် အသင်တို့သည် သိနားလည်ကြပေမည်။ [၁]

---

(၁) <u>ဖော်ပြချက်။</u>

ဤကဏ္ဍတွင် ဇနီးမိန်းမများနှင့် စပ်လျဉ်း၍ ထုတ်ပြန်ချမှတ်ထားတော်မူသော မုက္ခပါဠ်တော်များကို များစွာတွေ့ရှိရ၏။ ထိုမုက္ခပါဠ်တော်များကို ထုတ်ပြန်မိန့်ဆိုရာတွင် "ဤသည်တို့ကား အလ္လာဟ်အရှင်မြတ်ပြဋ္ဌာန်းထားတော်မူသော စည်းမျဉ်းဥပဒေများဖြစ်သည်၊ သို့ဖြစ်ရာ အသင်တို့သည် ထိုစည်းမျဉ်းဥပဒေများကို မကျူးလွန် ကြကုန်လင့်၊ အကြင်မည်သူမဆို အလ္လာဟ်အရှင်မြတ်၏ စည်းမျဉ်းဥပဒေများကို ကျူးလွန်ပါ မူ ထိုသူများသာလျှင် ကျူးလွန်သူများ ဖြစ်ကြကုန်သတည်း" ဟူ၍၎င်း၊ အကြင်မည်သူမဆို (ဇနီးမိန်းမတို့အား နစ်နာအောင်) ပြုလုပ်ခဲ့ပါမူ ထိုသူသည် မိမိကိုယ်ကို မိမိကိုယ်တိုင်ပင် နှိပ်စက်ညှဉ်းပန်းရာ ရောက်ပေသည်ဟူ၍၎င်း၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ပညတ်တော်များကို ပြောင်လှောင်ပြက်ချော်သရော်သမှု မပြုလုပ်ကြကုန်လင့် ဟူ၍၎င်း၊ ဤပညတ်တော်များကား အသင်တို့အနက် အလ္လာဟ်အရှင်မြတ်ကို၎င်း၊ နောက်ဆုံးနေ့ကို၎င်း သက်ဝင်ကြည်ညိုသောသူများအား သွန်သင်ဆုံးမအပ်သော ပညတ်တော်များ ဖြစ်သည်ဟူ၍၎င်း၊ အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့ကြ ကုန်ဟူ၍၎င်း၊ ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် အသင်တို့ပြုလုပ်သမျှသော ကိစ္စရပ်ရပ်ကို အကြွင်းမဲ့သိမြင်တော်မူသော အရှင်ဖြစ်တော်မူသည်ကို အသင်တို့ သိနားလည်ကြ ကုန်ဟူ၍၎င်း၊ ဤကားမွတ္တကီ သူတော်စင်များ လိုက်နာ ကျင့်သုံးအပ်သော တာဝန်တရပ် ဖြစ်သည်ဟူ၍၎င်း၊ အလ္လာဟ်အရှင်မြတ်သည် အကြွင်းမဲ့ သိတော်မူသော အရှင်၊ မြင်တော်မူသော အရှင်၊ ကြားတော်မူသောအရှင် ဖြစ်တော်မူသည် ဟူ၍၎င်း၊ အကြိမ်ကြိမ် အခါခါ မိန့်ဆိုထားတော်မူလေသည်။

အဆိုပါ မုက္ခပါဠ်တော်များကို ထောက်ရှုဆင်ခြင်ပါသော် ဇနီးမိန်းမများနှင့် ပတ်သက်၍ ထုတ်ပြန်ချမှတ်ထားတော်မူသော မုက္ခပါဠ်တော်များမှာ သာမည မိန့်ဆိုထားတော်မူသော မုက္ခပါဠ်တော်များ မဟုတ်ကြောင်း၊ အတိအကျ လိုက်နာကျင့်သုံးစေရန် အလို့ငှာ လေးလေးနက်နက် ထုတ်ပြန်ချမှတ်ထားတော်မူသော မုက္ခပါဠ်တော်များ ဖြစ်ကြောင်း ထင်ရှားလှပေသည်။ ကြည့်-(ထာနဝီ)။

أَلَمْ تَرَ إِلَى الَّذِينَ خَرَجُوا مِن
دِيَارِهِمْ وَهُمْ أُلُوفٌ حَذَرَ الْمَوْتِ
فَقَالَ لَهُمُ اللَّهُ مُوتُوا ثُمَّ
أَحْيَاهُمْ ۚ إِنَّ اللَّهَ لَذُو فَضْلٍ
عَلَى النَّاسِ وَلَٰكِنَّ أَكْثَرَ
النَّاسِ لَا يَشْكُرُونَ ﴿٢٤٣﴾

**၂၄၃**။ (အို- နဗီတမန်တော်) အသင် မသိမမြင် မဆင်ခြင်မိပါသလော အရေအတွက်အားဖြင့် ထောင်ပေါင်းများစွာသော သူတို့သည် သေဘေးမှ *လွှတ်မြောက်ရန်အလို့ငှာ မိမိတို့နေအိမ်များမှ ထွက်ခွာကြသောအခါဝယ်* [၁] အလ္လာဟ်အရှင်မြတ်က ယင်းသူတို့အား အသင်တို့သည် "သေကြကုန်လော့" ဟု မိန့်ကြားတော်မူ၏။ သို့မိန့်ကြားတော်မူ (လေရာ ယင်းသူတို့သည် သေကြေပျက်စီး သွားကြ၏) ထို့နောက်တဖန် ထိုအရှင်မြတ်က ယင်းသူတို့ကို ရှင်ပြန်စေတော် မူခဲ့သည်။ မချွတ်မလွဲ အလ္လာဟ် အရှင်မြတ်သည် လူခပင်းတို့အပေါ်ဝယ် မုချ ကျေးဇူး ပြုတော်မူထသော အရှင် ဖြစ်တော် မူလေသည်။ သို့ရာတွင် လူတို့အနက် မြောက်မြားစွာသော သူတို့ သည် (ငါအရှင်မြတ်၏) ကျေးဇူးတော်ကို မသိတတ် ကြချေ။

---

(၁) သေဘေးမှလွှတ်မြောက်ရန်အလို့ငှာ မိမိတို့နေအိမ်များမှထွက်ပြေးကြကုန်သော ထောင်ပေါင်းစွာသော သူတို့သည် မည်သူများနည်း၊ ဤတွင် "မုဖာစ်စိရီန်" အဋ္ဌကထာရှင်များသည် အမျိုးမျိုးအဆိုပြားလျက်ရှိကြပေသည်။

ကျမ်းစာအစောင်စောင်တွင် တွေ့ရှိရသော အဆိုအရပ်ရပ်ကို လေ့လာဆင်ခြင်သည်ရှိသော် သေဘေးမှ လွှတ်မြောက်ရန် အလို့ငှာ မိမိတို့နေအိမ်များမှ ထွက်ပြေးကြကုန်သော သူများမှာ အခြားမဟုတ်၊ အစ္စရာအီလီ မျိုးနွယ်များပင် ဖြစ်ကြပေသည်။

ထိုအဖြစ်အပျက်သည် တမန်တော် ဟဇ်ကီလ် (အလိုင်ဟစ္စလာမ်) လက်ထက်တော်တွင် ဖြစ်ပွားခဲ့၏။ အဂ္ဂသာဝကကြီး အဗ်ဒုလ္လာဟ် အီဗ်နုအဗ္ဗာစ် သခင်ကလည်း ဤအတိုင်းပင် မိန့်ဆိုခဲ့၏။ ဤအဆိုကား သင့်မြတ်လှ၏။ ယုတ္တိရှိ၏။ ကြည့်-ဟက္ကာနီ၊ ထာနဝီ။

**<u>ဆက်စပ်မှု</u>**။

ကုရ်အာန်ကျမ်းမြတ်(၂း၂၄၃)တွင် အစ္စရာအီလီလူမျိုးတို့သည် စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ရာတွင် သေဘေးမှလွှတ်မြောက်ရန်အလို့ငှာ မိမိတို့အိမ်များမှ ထွက်ပြေးတိမ်းရှောင်ခဲ့ကြသော်လည်း အလ္လာဟ်အရှင်မြတ်၏ အာဏာစက်ကွင်းမှ မလွှတ်ကင်းနိုင်ကြဘဲ သေကြေပျက်စီးကြရသည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

မွတ်စ်လင်မ်တို့သည် ထိုအကြောင်းကို ဆင်ခြင်၍ အလ္လာဟ်အရှင်မြတ်၏ တရားလမ်းတော်၌ မကြောက်မရွံ့ဘဲ ခွဲသတ္တိရှိရှိဖြင့် စစ်မက်ပြိုင်ဆိုင်ကြရန် အလို့ငှာ ဤမုကဒ္ဒပါဌ်တော်ကို ထုတ်ပြန်ချမှတ်တော်မူခြင်း ဖြစ်၏။

وَقَاتِلُوا فِي سَبِيلِ اللَّهِ وَاعْلَمُوا أَنَّ اللَّهَ سَمِيعٌ عَلِيمٌ ﴿٢٤٤﴾

၂၄၄။ ထို့ပြင်တဝ အသင်တို့သည် (အထက်ဖော်ပြပါ အတ္ထုပ္ပတ္တိကို ဆင်ခြင်၍) စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ကြကုန်။ ၎င်းပြင် ကေန်မလွဲ အလ္လာဟ် အရှင်မြတ်သည် အလုံးစုံကို အကြွင်းမရှိ ကြားတော် မူသောအရှင်၊ အကြွင်းမရှိ သိတော်မူသောအရှင် ဖြစ် တော်မူသည်ကိုလည်း အသင်တို့သည် ယုံကြည်မှတ်ယူ ကြကုန်လော့။ [၁]

مَنْ ذَا الَّذِي يُقْرِضُ اللَّهَ قَرْضًا حَسَنًا فَيُضَاعِفَهُ لَهُ أَضْعَافًا كَثِيرَةً ۚ وَاللَّهُ يَقْبِضُ وَيَبْصُطُ

၂၄၅။ အလ္လာဟ်အရှင်မြတ်အား မွန်မြတ်လှစွာသော *ကြွေးမြီချေးငှားမည့်* [၂] သူသည် မည်သူနည်း။ သို့ ချေးငှားခြင်း အားဖြင့် အလ္လာဟ်အရှင်မြတ်သည် ယင်းကဲ့သို့သောချေးငှားခြင်း၏ အကျိုးကို ထိုသူအတို့ *အဆပေါင်းမြောက်မြားစွာ တိုးပွားစေတော်မူအံ့။* [၃]

---

① **<u>ဆက်စပ်မှု</u>**

ကုရ်အာန်ကျမ်းမြတ် (၂း၂၄၄) တွင် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရမည့်အကြောင်း မိန့်ဆိုထားတော်မူ၏။ စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ရာတွင် စစ်စရိတ်အမြောက်အများ ကုန်ကျသည်မှာ အထင်အရှားပင် ဖြစ်လေသည်။ထို့အတွက်ကြောင့် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန် ထုတ်ပြန်ချမှတ် တော်မူသော အမိန့်တော်နှင့် ဆက်စပ်၍ စစ်ရံပုံငွေတွင် အလှူပါဝင်ကြရမည့်အကြောင်းကို ကုရ်အာန်ကျမ်း (၂း၂၄၅) တွင် မိန့်ဆို ထားတော်မူသည်။

② အရာခပ်သိမ်းတို့သည် အမှန်အားဖြင့် အလ္လာဟ်အရှင်မြတ် ပိုင်ဆိုင်တော်မူသော အရာများသာဖြစ်သည်။ သို့ဖြစ်ပါလျက် အလှူထည့်ဝင်ခြင်းကို အလ္လာဟ်အရှင်မြတ်အား ကြွေးမြီချေးငှားခြင်း ဟူ၍ မိန့်ဆိုထားခြင်းမှာ ကြွေးမြီချေးငှားသည့်အခါ မိမိချေးငှားသောပစ္စည်း၏ အစားမုချ ပြန်လည်ရရှိသကဲ့သို့ အလ္လာဟ်အရှင်မြတ်အား ကြွေးမြီချေးငှားခြင်း၏ အစားကိုလည်း မုချပြန်လည်ရရှိမည်ကို သိစိမ့်သောငှာ တင်စား၍ မိန့်ဆိုထား တော်မူခြင်းဖြစ်သည်။ ကြည့်-ထာနဝီ။

*"ကောင်းမြတ်သော ကြွေးမြီချေးငှားခြင်း"* ဟူသည် ကောင်းမြတ်သောစိတ်ထားဖြင့် လှူဒါန်းခြင်းဟူ၍၎င်း၊ ဖြူစင်သန့်ရှင်းသောဥစ္စာပစ္စည်းများကို လှူဒါန်းခြင်းဟူ၍၎င်း၊ အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ ဥစ္စာပစ္စည်း လှူဒါန်းခြင်း၊ ကိုယ်ထိလက်ရောက်လိုက်နာကျင့်မှုခြင်းဟူ၍၎င်း၊ အသီးသီးအနက်ဖွင့်ကြသည်။ ကြည့်-ဗိုင်သွာဝီ။

③ "အလ္လာဟ်အရှင်မြတ်သည် မိမိအား ကြွေးမြီချေးငှားခြင်း၏ ကုသိုလ်အကျိုးကို အဆပေါင်းများစွာ တိုးတက်၍ ပေးသနားတော်မူမည်" ဟူသော မုက္ခပါဌ်တော်တွင် ပါရှိသော "ဆပေါင်းများစွာ" ဟူသည် အဆပေါင်းခုနစ်ရာဟူ၍ အချို့ကဆိုကြသည်၊ သို့ရာတွင် "ဆပေါင်းများစွာ" ဟူသည် မည်၍မည်မျှဖြစ်သည်ကို အမှန်အားဖြင့် အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူသည်။

وَإِلَيْهِ تُرْجَعُونَ ﴿٢٤٥﴾

(တဖန် ယင်းကဲ့သို့ ကြွေးမြီချေးငှားသူတို့ အဘို့မှာလည်း မိမိတို့၏ဥစ္စာပစ္စည်း နည်းပါး သွားမည်ကို စိုးရိမ်မကင်းမဖြစ်သင့်ချေ။) အဘယ့် ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ် သည်သာလျှင် (ဥစ္စာပစ္စည်းကို) ကျပ်တည်းစေတော်မူသည်။ ထို အရှင်မြတ်သည်ပင်လျှင် (ဥစ္စာပစ္စည်းကို) ချောင် လည်စေတော်မူလေသည်။ တဖန် အသင်တို့သည် ထိုအရှင်မြတ်အထံတော်သို့သာလျှင် ပြန်လှည့်ကြ ရပေမည်။

أَلَمْ تَرَ إِلَى الْمَلَإِ مِنْ بَنِي إِسْرَاءِيلَ مِنْ بَعْدِ مُوسَىٰ إِذْ قَالُوا لِنَبِيٍّ لَهُمُ ابْعَثْ لَنَا مَلِكًا نُقَاتِلْ فِي سَبِيلِ اللَّهِ ۖ قَالَ هَلْ عَسَيْتُمْ إِنْ كُتِبَ عَلَيْكُمُ الْقِتَالُ أَلَّا تُقَاتِلُوا ۖ قَالُوا وَمَا لَنَا أَلَّا نُقَاتِلَ

**၂၄၆။** (အို-နဗီ တမန်တော်) အသင်သည် နဗီတမန်တော် မူစာ (အလိုင်ဟစ္စလာမ်) ကွယ်လွန်ပြီးသည့်နောက် အစ္စရာအီလီ မျိုးနွယ်များ အနက်မှ ဦးစီးနာယကများ၏ (ဖြစ်အင်များ)ကို လေ့လာဆင်ခြင် သုံးသပ်ပြီးသည် မဟုတ်ပါလော။ အခါတပါး၌ ယင်းသူတို့သည် မိမိတို့၏ နဗီ တမန်တော်အား "ကျွန်တော်မျိုးတို့အဘို့ ဘုရင် တပါးကို ခန့်အပ်တင်မြှောက်၍ ပေးတော်မူပါ၊ ကျွန်တော် မျိုးတို့သည် အလ္လာဟ် အရှင်မြတ်၏ လမ်းတော်၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ကြပါမည်" ဟု လျှောက်ထားကြကုန်၏။ [၁]

(၁) အစ္စရာအီလီ လူမျိုးတို့က မိမိတို့၏ နဗီတမန်တော်ထံတွင် "ကျွန်တော်မျိုးတို့အတွက် ဘုရင်တပါးခန့်အပ် တင်မြှောက်ပေးတော်မူပါ" ဟု လျှောက်ထားသောခေတ်သည် နဗီတမန်တော်မူစာ (အလိုင်ဟစ္စလာမ်) ကွယ်လွန်သေဆုံးပြီးနောက် နှစ်ပေါင်း (၃၀၀)ခန့်၊ နဗီတမန်တော် ဒါဝူဒ် (အလိုင်ဟစ္စလာမ်) မပွင့်မီခေတ်တွင် ဖြစ်သည်။ ကြည့်-(မာဂျိဒီ)။

فِي سَبِيلِ اللَّهِ وَقَدْ أُخْرِجْنَا مِن دِيَارِنَا وَأَبْنَائِنَا ۖ فَلَمَّا كُتِبَ عَلَيْهِمُ الْقِتَالُ تَوَلَّوْا إِلَّا قَلِيلًا مِّنْهُمْ ۗ وَاللَّهُ عَلِيمٌ بِالظَّالِمِينَ ﴿٢٤٦﴾

ထိုအခါ နဗီတမန်တော်က (အချင်းတို့) အကယ်၍သာ အသင်တို့အပေါ်ဝယ် (အလ္လာဟ်အရှင်မြတ်အထံတော်မှ) စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန် အမိန့်ပြဋ္ဌာန်းချက်သည် အတည်ဖြစ်ပါမူ အသင်တို့သည် (စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းမပြုသူများ ဖြစ်တန်ရာသည် မဟုတ်လော) ဟု ဖြေကြားတော်မူ၏။ ထိုအခါ ယင်းသူတို့က အမှန်စင်စစ် ကျွန်တော်မျိုးတို့သည် မိမိတို့အိုးအိမ် စည်းစိမ်များနှင့်တကွ မိမိတို့သားသမီးများကိုပါ စွန့်လွှတ်ခွဲခွာ၍ နှင်ထုတ်ခြင်းခံရသူများ ဖြစ်ကြရကား ကျွန်တော်မျိုးတို့အဘို့ အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းမပြုရန် အဘယ်မှာလျှင် အကြောင်းရှိနိုင်ပါအံ့နည်း" ဟု လျှောက်ထားကြပြန်လေသည်။ ထို့နောက် (အလ္လာဟ်အရှင်မြတ်အထံတော်မှ) ယင်းသူတို့အပေါ်၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန် အမိန့်တော်ကျရောက်လာသောအခါ ယင်းသူတို့အနက်မှ အနည်းငယ်သောသူများမှ အပ (ကျန်လူ အားလုံးတို့သည်) ကျောခိုင်းသွားကြလေသည်။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် စည်းကမ်းဖောက်ဖျက်သောသူတို့ကို သေချာစေ့ငုံစွာ သိရှိတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

وَقَالَ لَهُمْ نَبِيُّهُمْ إِنَّ اللَّهَ قَدْ بَعَثَ لَكُمْ طَالُوتَ مَلِكًا ۚ قَالُوا أَنَّىٰ يَكُونُ لَهُ الْمُلْكُ

၂၄၇။ ထို့နောက်ယင်းသူတို့အား ထိုသူတို့၏နဗီတမန်တော်က "ဟယ်-အချင်းတို့ ဧကန်ဆတ်ဆတ် အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ပေါ် "တွာလူတ်" [၁] ကို ဘုရင်အဖြစ် တင်မြှောက်တော်မူလေပြီ" ဟု ပြောကြားလေရာ

[၁] အစ္စရာအီလီ လူမျိုးတို့၏ လျှောက်ထားချက်အရ အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့အပေါ်၌ မင်းလုပ်အုပ်ချုပ်ရန် 'တွာလူတ်' အား ဘုရင်အဖြစ် မြှောက်စားတော်မူလေသည်။ ➢➢

عَلَيْنَا وَنَحْنُ أَحَقُّ بِالْمُلْكِ مِنْهُ وَلَمْ يُؤْتَ سَعَةً مِّنَ الْمَالِ ۚ قَالَ إِنَّ اللَّهَ اصْطَفَاهُ عَلَيْكُمْ وَزَادَهُ بَسْطَةً فِي الْعِلْمِ وَالْجِسْمِ ۖ وَاللَّهُ يُؤْتِي مُلْكَهُ مَن يَشَاءُ ۚ وَاللَّهُ وَاسِعٌ عَلِيمٌ ﴿٢٤٧﴾

ထိုသူတို့က "အဘယ်အတွက်ကြောင့် ယင်း 'တွာလူတ်' တွင် ကျွန်တော်မျိုးတို့အပေါ်၌ မင်းလုပ် အုပ်ချုပ်နိုင်ရန် သြဇာအာဏာသည် အသို့လျှင်ရှိနိုင်အံ့နည်း၊[၁] အမှန်စင်စစ် ကျွန်တော်မျိုးတို့သည် ယင်းပုဂ္ဂိုလ်ထက်ပင် သြဇာအာဏာ ရထိုက်သူများ ဖြစ်ကြပါသည်။ ၎င်းပြင် ထို 'တွာလူတ်' သည် ဥစ္စာဓနကြွယ်ဝချမ်းသာမှုကိုလည်း ရရှိသူ မဟုတ်ပါ" ဟု လျှောက်ထားကြကုန်၏။ ထိုအခါဝယ် ယင်းနဗီတမန်တော်က "ဟယ်-အချင်းတို့ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် ယင်း 'တွာလူတ်' ကိုပင် အသင်တို့အပေါ်၌ (ဘုရင်အဖြစ်) ရွေးချယ်တင်မြှောက်တော်မူလေပြီ၊ ထို့ပြင်တဝ ထိုအရှင်မြတ်သည် ယင်း 'တွာလူတ်' အား (စစ်မက်ရေးရာ အဖြာဖြာ၌ ကျွမ်းကျင်လိမ္မာခြင်းတည်းဟူသော) ဉာဏဗလ၌၎င်း၊ (ရုပလက္ခဏာကြန်အင်္ဂါနှင့်ပြည့်စုံ၍ ကိုယ်ခန္ဓာထွားကျိုင်း ခွန်အားကြီးမားခြင်း တည်းဟူသော) ကာယဗလအရာ၌၎င်း၊ အသင်တို့ထက် ကျယ်ဝန်းစွာ ပေးသနားတော်မူလေသည်။

---

>> 'တွာလူတ်' ၏ဘခင်မှာ 'ကိရှ်' ဖြစ်၏။ 'တွာလူတ်' သည် အစ္စရာအီလီလူမျိုးတို့တွင် ဦးစွာပထမ ဘုရင်အဖြစ် မြှောက်စားခြင်းခံရသူပင်ဖြစ်၏။ 'တွာလူတ်' ၏ နန်းသက်သည် B.C. ၁၀၂၈ မှ B.C.၁၀၀၂ အထိတည်ရှိခဲ့၏။ ကြည့်-မာဂျီဒီ။

(၁) အစ္စရာအီလီ လူမျိုးတို့သည် တမန်တော် ရှမူအီလ်(အလိုင်ဟစ္စလာမ်)ထံ လာရောက်၍ မိမိတို့အပေါ်တွင် မင်းလုပ်အုပ်ချုပ်ရန် 'ဘုရင်တပါး ခန့်အပ်ပေးတော်မူပါ' ဟု လျှောက်ထားကြ၏။ ထိုအချိန်တွင် တမန်တော် ရှမူအီလ်(အလိုင်ဟစ္စလာမ်)က 'အချင်းတို့ အသင်တို့သည် စစ်မက်ပြိုင်ဆိုင်ရန် အမိန့်တော် ကျရောက်လာသည် ရှိသော် တကယ်ပင်စစ်တိုက်နိုင်ကြပါမည်လော" ဟူ၍ မိမိ၏ ဒွိဟသံသယဖြစ်မှုကိုပင် ထုတ်ဖော်ပြောဆိုလေသည်။

အစ္စရာအီလီလူမျိုးတို့က အကြောင်းအမျိုးမျိုးပြကာ ဘုရင်တပါးရရှိရေးကိုသာ ဆက်လက်၍ တောင်းဆိုလျှောက်ထား ကြသည့်အခါ အလ္လာဟ်အရှင်မြတ်သည် ယင်းသူတို့အပေါ်တွင် 'တွာလူတ်' အား ဘုရင်အဖြစ် ခန့်အပ်တော်မူလိုက်သည့်အခါတွင် (တမန်တော်ရှမူအီလ် ကြိုတင်တွေးမြင်သည့်အတိုင်းပင်) အစ္စရာအီလီလူမျိုးတို့သည် စစ်တိုက်ကြရမည့်အရေးကို စိုးရိမ်ကြောင့်ကြပြီး၊ 'တွာလူတ်' အား ဘုရင်အဖြစ် ခန့်အပ်ခြင်းအကြောင်းနှင့် စပ်လျဉ်း၍ "ထိုသူသည် ကျွန်တော်မျိုးတို့အပေါ်တွင် အသို့လျှင် ဘုရင် >>

အကြောင်းမူကား အလ္လာဟ်အရှင်မြတ်သည် မိမိ (ပိုင်ဆိုင်တော်မူသော) သြဇာအာဏာကို မိမိ နှစ်သက်လိုလား တော်မူသော သူကိုသာလျှင် ပေးသနားတော် မူလေသည်။ တဖန် အလ္လာဟ် အရှင်မြတ် သည်သာလျှင် (ဥစ္စာဓန ချမ်းသာ ကြွယ်ဝမှုကို) ကျယ်ဝန်းစွာ ပေးသနားတော်မူသော အရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော် မူသောအရှင် ဖြစ်တော်မူပေသည်။" ဟု ပြန်လည် ဖြေကြားတော်မူလေသတည်း။

وَقَالَ لَهُمْ نَبِيُّهُمْ إِنَّ آيَةَ مُلْكِهِ
أَنْ يَأْتِيَكُمُ التَّابُوتُ فِيهِ
سَكِينَةٌ مِنْ رَبِّكُمْ وَبَقِيَّةٌ مِمَّا
تَرَكَ آلُ مُوسَىٰ وَآلُ هَارُونَ
تَحْمِلُهُ الْمَلَائِكَةُ ۚ إِنَّ فِي ذَٰلِكَ
لَآيَةً لَكُمْ إِنْ كُنْتُمْ
مُؤْمِنِينَ ۝٢٤٨

၂၄၈။ ထို့ပြင် ထိုသူတို့အား ထိုသူတို့၏ နဗီ တမန်တော်က ထို တွာလူတ် ဘုရင်ဖြစ်ခြင်း၏ နိမိတ်လက္ခဏာတော်မှာ အသင်တို့ထံသို့ အကြင် သေတ္တာသည် အလိုအလျောက် ပြန်ရောက်လာခြင်း ပင်ဖြစ်သည်။ ထိုသေတ္တာတွင် အသင်တို့အား မွေးမြူ တော်မူသောအရှင်မြတ်၏အထံတော်မှဖြစ်သော စိတ်နှလုံးအေးချမ်းစေသော ပစ္စည်းရှိအံ့၊ ၎င်းပြင် နဗီတမန်တော် မူစာ(အလိုင်ဟစ္စလာမ်)၏ အဆက် အနွယ်များနှင့် နဗီတမန်တော် ဟာရူန်(အလိုင် ဟစ္စလာမ်)၏ အဆက်အနွယ်များ ထားရှိခဲ့ကြသော အကြွင်းအကျန် ပစ္စည်းများလည်းရှိအံ့၊ ထိုသေတ္တာကို အပါးတော်စေတမန်များ ဆောင်ကြဉ်းလာကြကုန်အံ့။ အကယ်၍ အသင်တို့သည် ယုံကြည်ခြင်းသဒ္ဓါတရား ထားရှိကြသော 'မုအ်မင်န်'များ ဖြစ်ကြပါမူ ယင်း (သေတ္တာပြန်ရောက်လာခြင်း)သည် မုချ အသင်တို့ အတွက် သက်သေ သာဓကတရပ်ပင် ဖြစ်ချေသည် ဟု ပြောကြားလေသည်။

---

➤➤ ဖြစ်နိုင်ပါအံ့နည်း၊ ကျွန်တော်မျိုးတို့သာလျှင် သူတို့ထက်ပိုမို၍ ဘုရင်ဖြစ်ထိုက်ကြပါသည်။ ထိုသူသည် ဥစ္စာပစ္စည်း ချမ်းသာကြွယ်ဝသူလည်း မဟုတ်ပါ... စသည်ဖြင့် အမျိုးမျိုး ဝေဘန်ပြောဆိုကြလေတော့သည်။

فَلَمَّا فَصَلَ طَالُوتُ بِالْجُنُودِ قَالَ إِنَّ اللَّهَ مُبْتَلِيكُم بِنَهَرٍ فَمَن شَرِبَ مِنْهُ فَلَيْسَ مِنِّي وَمَن لَّمْ يَطْعَمْهُ فَإِنَّهُ مِنِّي إِلَّا مَنِ اغْتَرَفَ غُرْفَةً بِيَدِهِ فَشَرِبُوا مِنْهُ إِلَّا قَلِيلًا مِّنْهُمْ فَلَمَّا جَاوَزَهُ هُوَ وَالَّذِينَ آمَنُوا مَعَهُ قَالُوا لَا طَاقَةَ لَنَا الْيَوْمَ بِجَالُوتَ وَجُنُودِهِ قَالَ الَّذِينَ يَظُنُّونَ أَنَّهُم مُّلَاقُو اللَّهِ كَم مِّن فِئَةٍ قَلِيلَةٍ غَلَبَتْ فِئَةً كَثِيرَةً بِإِذْنِ اللَّهِ وَاللَّهُ مَعَ الصَّابِرِينَ ﴿٢٤٩﴾

၂၄၉။ ထို့နောက် တွာလူတ်ဘုရင်သည် (မိမိ၏) စစ်သည်တော်များနှင့်တကွ ('ဂျာလူတ်'အား စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ရန်အလို့ငှါ) ထွက်ခွါ ချီတက်သွားသောအခါ ထို(တွာလူတ်) ဘုရင်က "(အချင်းတို့) မုချ စင်စစ် အလ္လာဟ်အရှင်မြတ် သည် အသင်တို့အား မြစ်တခုဖြင့် စမ်းသပ်တော်မူ လတ္တံ့၊ သို့ဖြစ်ရာ အကြင်သူသည် ထိုမြစ်ရေကို (လွန်ကျူး စွာ) သောက်သုံး သည်ရှိသော် ထိုသူသည် ငါ နှင့်စပ်ဆိုင်သူမဟုတ်၊ ထို့ပြင် အကြင်သူသည် ထိုမြစ်ရေကိုမသောက်သော် ထိုသူသည်သာလျှင် ငါနှင့်စပ်ဆိုင်သူဖြစ်သည်။ သို့ရာတွင် အကြင်သူသည် (ထိုမြစ်ရေကို) မိမိလက်ဖြင့် တလက်ခုပ်မျှသောက် သောက်သုံးသည်ရှိသော် (တစုံတရာအပြစ်မရှိပေ)" ဟု ပြောကြားလေသည်။ သို့တစေလည်း တွာလူတ် ဘုရင်၏စစ်သည်တော်များအနက် အနည်းငယ်မျှ သောလူတစုမှအပကျန်အားလုံးတို့သည် ထိုမြစ်ရေ ကို (လွန်ကျူးစွာ) သောက်သုံးကြလေ၏။ ထို့နောက် ထို(တွာလူတ်) ဘုရင်သည်လည်းငှင်း၊ ထိုတွာလူတ် ဘုရင်နှင့် အတူတကွလိုက်ပါလာသောယုံကြည်ခြင်း သဒ္ဓါတရား ထားရှိသော 'မုအ်မင်န်' တို့သည်ငှင်း၊ ထိုမြစ်ကိုဖြတ်ကူး၍ ကျော်လွန်သွားကြသည့်အခါ ထိုလိုက်ပါလာသော စစ်သည်တော်တို့ (အနက် တချို့)က "ယနေ့အဘို့ ကျွန်ုပ်တို့၌ ဂျာလူတ်နှင့် ထိုဂျာလူတ်၏ စစ်သည်တော်တို့အား ပြိုင်ဆိုင် တိုက်ခိုက်ရန် စွမ်းအားမရှိပြီ" ဟု ပြောဆိုကြလေ သည်။ (ထို အခါဝယ်) ငါတို့သည် ဧကန်မုချ အလ္လာဟ် အရှင်မြတ်အား ဖူးတွေ့ရမည့်သူများ ဖြစ်ကြသည်ဟူ၍ ယုံကြည်သောသူများက "အလ္လာဟ်

အရှင်မြတ်၏ အမိန့်တော်ဖြင့် အနည်းငယ်မျှသော လူစုကလေးများသည် စစ်သည်တော် မြောက်မြားစွာ ပါဝင်သောလူစုများကိုပင် ကြိမ်ဖန်များစွာ အောင်နိုင်ခဲ့ဘူးလေပြီ၊ အမှန်စင်စစ် အလ္လာဟ်အရှင် မြတ်သည် ခန္တီပါရမီနှင့်ပြည့်စုံသောသူများနှင့် အတူတကွ ရှိတော်မူပေသည်" ဟု ပြောဆိုကြကုန်၏။

وَلَمَّا بَرَزُوا لِجَالُوتَ وَجُنُودِهِ قَالُوا رَبَّنَا أَفْرِغْ عَلَيْنَا صَبْرًا وَثَبِّتْ أَقْدَامَنَا وَانصُرْنَا عَلَى الْقَوْمِ الْكَافِرِينَ ﴿٢٥٠﴾

၂၅၀။ ထို့နောက် တဖန် ယင်းသူတို့သည် ဂျာလူတ် ဘုရင်နှင့်၎င်း၊ ယင်း(ဂျာလူတ်)၏ စစ်သည်ရဲမက်တို့နှင့်၎င်း၊ (စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ရန်) မျက်နှာချင်းဆိုင်ကြသောအခါ (အလ္လာဟ်အရှင်မြတ်အထံတော်၌) "အို-ကျွန်တော်မျိုးတို့အား မွေးမြူတော်မူသောအရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့ အပေါ်ဝယ် ဖွဲသတ္တိကို သွန်းလောင်း၍ ပေးသနားတော်မူပါ။ ၎င်းပြင် အရှင်မြတ်သည် ကျွန်တော်မျိုးတို့၏ခြေများကို ခိုင်မြဲစွာ ရပ်တည်စေတော်မူပါ။ ထို့ပြင် အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား 'ကာဖိရ်' မယုံမကြည် သွေဖည်ငြင်းပယ် ကြကုန်သောသူတို့ အပေါ်၌ အောင်မြင်မှုရရန် ကူညီစောင်မ တော်မူပါဟု *ရွတ်ဆို (ပတ္ထနာ) ပြုကြကုန်၏။* [၁]

---

(၁) မွတ်စ်လင်မ်စစ်သည်တော်တို့သည် မိမိတို့၏ စွမ်းရည်သတ္တိ၊ ကြိုးပမ်းအားထုတ်မှု၊ စစ်သည်အင်အားနှင့် စစ်လက်နက်များထက် အလ္လာဟ်အရှင်မြတ်၏ ကူညီစောင်မတော်မူခြင်းကို အထူးအမှီသဟဲပြု၍ အားထားကြကုန်သည်။ ဤသည့်အတွက်ကြောင့်ပင် မွတ်စ်လင်မ် စစ်သည်တော်များသည် စစ်မြေပြင်တွင် အလ္လာဟ်အရှင်မြတ်၏ ထံတော်ပါး၌ "အို- ကျွန်တော်မျိုးတို့အား မွေးမြူတော်မူသောအရှင် ကျွန်တော်မျိုးတို့အပေါ်ဝယ် ဖွဲသတ္တိကို သွန်းလောင်းပေးတော်မူပါ၊ကျွန်တော်မျိုးတို့၏ခြေများကိုခိုင်မြဲစွာ ရပ်တည်စေတော်မူပါ။ ကျွန်တော်မျိုးတို့အား 'ကာဖိရ်' တို့အပေါ်ဝယ် အောင်နိုင်စေတော်မူပါ" ဟု ဆုတောင်းပတ္ထနာ ပြုကြကုန်သည်။

နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစ္စလ္လမ်)သည် စစ်ပွဲတိုင်းတွင် မွတ်စ်လင်မ် စစ်သည်တော်များ အောင်နိုင်ရေး အတွက် အလ္လာဟ်အရှင်မြတ်၏ အထံတော်၌ ဆုတောင်းပတ္ထနာ ပြုတော်မူခဲ့သည်မှာ ရာဇဝင်အထင်အရှားပင် ဖြစ်ပေသည်။

فَهَزَمُوهُم بِإِذْنِ اللَّهِ وَقَتَلَ دَاوُودُ جَالُوتَ وَآتَاهُ اللَّهُ الْمُلْكَ وَالْحِكْمَةَ وَعَلَّمَهُ مِمَّا يَشَاءُ ۗ وَلَوْلَا دَفْعُ اللَّهِ النَّاسَ بَعْضَهُم بِبَعْضٍ لَّفَسَدَتِ الْأَرْضُ وَلَٰكِنَّ اللَّهَ ذُو فَضْلٍ عَلَى الْعَالَمِينَ ﴿٢٥١﴾

**၂၅၁။** ထို(ကဲ့သို့ ဆုတောင်းပတ္ထနာပြုခဲ့ကြပြီး)နောက် ယင်း('တွာလူတ်' ဘုရင်၏စစ်သည်တော်)တို့သည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်ဖြင့် ထို ('ဂျာလူတ်' ၏စစ်သည်ရဲမက်)တို့ကိုတွန်းလှန်ဖြိုဖျက်၍ စစ်ရေးနိမ့်စေခဲ့ကြလေသည်။ 'ဒါဝူဒ်' သည်လည်း 'ဂျာလူတ်'ကို ကွပ်မျက်ခဲ့လေ၏။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် ထိုဒါဝူဒ်အားသြဇာအာဏာကိုင်း၊ ဉာဏ်ပညာအမြော်အမြင်(ဝါ)နဗီတမန်တော်၏ဂုဏ်ထူးကိုင်း၊ ခြီးမြှင့် ပေးသနားတော်မူခဲ့လေသည်။ ထိုမှတပါးတုံ အလ္လာဟ်အရှင်မြတ်သည် ယင်း[နဗီတမန်တော်ဒါဝူဒ် (အလိုင်ဟစ္စလာမ်)]အား မိမိအလိုရှိတော်မူသောပညာရပ်တို့ကိုလည်းသင်ကြားပေးသနားတော်မူခဲ့လေသည်။ အကယ်စင်စစ် အလ္လာဟ်အရှင်မြတ်သည်လူသားတို့အား ထိုလူသားတို့အနက် အချို့တို့ကိုအချို့တို့ဖြင့် တွန်းလှန်တားဆီးခြင်းမပြုခဲ့ပါမူ ဤကမ္ဘာမြေပြင်ကြီးသည်ပျက်စီးယိုယွင်းပြီးဖြစ်အံ့။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် စကြာဝဠာအပေါင်းတို့အပေါ်၌ ကျေးဇူးတော်ရှင်ဖြစ်တော်မူလေသည်။

تِلْكَ آيَاتُ اللَّهِ نَتْلُوهَا عَلَيْكَ بِالْحَقِّ ۚ وَإِنَّكَ لَمِنَ الْمُرْسَلِينَ ﴿٢٥٢﴾

**၂၅၂။** (အို-နဗီတမန်တော်) ဤသည်တို့သည် အလ္လာဟ်အရှင်မြတ်၏မုကျ္ခပါဌ်တော်များပင်ဖြစ်သည်၊ ငါအရှင်မြတ်သည်အသင့်အား ထိုမုကျ္ခပါဌ်တော်များကိုမှန်ကန်စွာကြားသိစေတော်မူသည်၊ ၎င်းပြင် အသင်သည် စေလွှတ်တော်မူခြင်းခံရသော 'ရစူလ်' *တမန်တော်များတွင်မှချတပါးအပါအဝင် ဖြစ်လေ၏၊*[၁]

---

(၁) **ဆက်စပ်မှု** ကုရ်အာန်ကျမ်းမြတ်၏ အဓိကရည်ရွယ်ချက်များတွင် တမန်တော်မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ တမန်တော်ဖြစ်ကြောင်းကို ထင်ရှားစေခြင်းသည်လည်း အပါအဝင်ဖြစ်ပေသည်။ သို့အတွက်ကြောင့် ကုရ်အာန်ကျမ်းမြတ်တွင် မြောက်မြားစွာသော နေရာများ၌ အလျဉ်းသင့်သည့်အခါတိုင်း တမန်တော်မုဟမ္မဒ်(ဆွာလ္လလ္လာဟုအလိုင်ဟိဝစ္စလ္လမ်)သည်တမန်တော်တပါးဖြစ်ကြောင်းကိုထုတ်ဖော်မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

تِلْكَ الرُّسُلُ فَضَّلْنَا
بَعْضَهُمْ عَلَىٰ بَعْضٍ
مِّنْهُم مَّن كَلَّمَ اللَّهُ وَرَفَعَ
بَعْضَهُمْ دَرَجَاتٍ وَآتَيْنَا
عِيسَى ابْنَ مَرْيَمَ الْبَيِّنَاتِ
وَأَيَّدْنَاهُ بِرُوحِ الْقُدُسِ وَلَوْ
شَاءَ اللَّهُ مَا اقْتَتَلَ الَّذِينَ مِن

**၂၅၃။** အချို့သော တမန်တော်များကို အချို့သော တမန်တော်များထက် ပိုမို ဂုဏ်ဒြပ် ချီးမြှင့်တော်မူခဲ့လေပြီ။ ထိုတမန်တော်များတွင် အလ္လာဟ်အရှင်မြတ် (ကိုယ်တော်တိုင် တိုက်ရိုက်) *စကားပြောကြားတော်မူခဲ့သော တမန်တော်များလည်းရှိ၏။* [၁] ၎င်းပြင် ထိုအရှင်မြတ်သည် ယင်းတမန်တော်များအနက် အချို့ကို *ဂုဏ်ဒြပ်များစွာ ချီးမြှင့်မြှောက်စားတော်မူခဲ့လေသည်။* [၂] ၎င်းပြင် ငါ အရှင်မြတ်သည် မရ်ယမ်၏သား (နဗီတမန်တော်) အီစာအား ထင်ရှားလှစွာသောသက်သေခံ လက္ခဏာတော်များကို ချီးမြှင့်တော်မူခဲ့သည့်ပြင် ရူဟုလ်ကုဒုစ် ခေါ် စေတမန်'ဂျိဗ်ရီလ်' ဖြင့်လည်းကူညီထောက်မတော်မူခဲ့လေသည်။

---

**ဆက်စပ်မှု**

ကုရ်အာန်ကျမ်းမြတ်(၂း၂၅၂)တွင် နဗီတမန်တော်များ၏ အကြောင်း အကျဉ်းသဘောအားဖြင့် ပါရှိသဖြင့် (၂း၂၅၃)တွင် အချို့နဗီတမန်တော်များ၏ ဂုဏ်အင်ဒြပ်များနှင့် ထိုနဗီတမန်တော်များ၏ နောက်လိုက်တပည့်သားတို့၏ အတ္ထုပ္ပတ္တိများကို ဆက်စပ်၍ မိန့်ဆိုထားတော်မူသည်။

① အလ္လာဟ်အရှင်မြတ်သည် နဗီတမန်တော်များအနက် အချို့နှင့် တိုက်ရိုက် စကားပြောတော်မူခဲ့သည်၊ အလ္လာဟ်အရှင်မြတ် တိုက်ရိုက်စကား ပြောကြားတော်မူသော တမန်တော်မှာ တမန်တော်မူစာ (အလိုင်ဟစ္စလာမ်) ဖြစ်သည်။ တမန်တော်မူစာအားအလ္လာဟ်အရှင်မြတ် တိုက်ရိုက်စကား ပြောကြားတော်မူသည့်အကြောင်း ကုရ်အာန်ကျမ်းမြတ် (၄း၁၆၄။ ၇း၁၄၃-၁၄၄) တွင်လည်း အတည့် အလင်း ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။

ဤလောကတွင် လူသား တစ်ဦးဦးအား အလ္လာဟ်အရှင်မြတ် စကားပြောကြားတော် မူခြင်းသည် သုံးမျိုးသုံးစားသာရှိသည်။ (၁) 'ဝဟ်ယ်'ပို့ချတော်မူခြင်း၊ (၂) အကွယ်မှပြောကြားတော်မူခြင်း၊ (၃) စေတမန်တပါးပါးအား စေလွှတ်၍ 'ဝဟ်ယ်' ပို့ချတော်မူခြင်း။ ကြည့်-ကုရ်အာန် (၄၂း၅၁)။ သို့ဖြစ်ပေရာ တမန်တော်မူစာအား အလ္လာဟ်အရှင်မြတ် စကားပြောကြားတော်မူခြင်းသည် ဖော်ပြပါစကားပြောကြားတော်မူခြင်း သုံးမျိုးအနက် ဒုတိယအမျိုးသာ ဖြစ်ပေမည်။ ကြည့်-ထာနဝီ။

② အလ္လာဟ်အရှင်မြတ်သည် နဗီတမန်တော်များအနက် အချို့အား ဂုဏ်အင်ဒြပ်များကို ပိုမို၍ ချီးမြှင့်ထားတော်မူသည်၊ သို့ဂုဏ်အင်ဒြပ်ပိုမို၍ ချီးမြှင့်ခြင်းခံရသော နဗီတမန်တော်မှာ နဗီတမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟုအလိုင်ဟိ ဝစလ္လမ်)ပင် ဖြစ်တော်မူသည်။ ဤကားအများမွတ်စ်လင်မ် ပညာရှင်တို့၏ ယူဆချက်တည်း။

ကြည့်-အလ်မနာရ်၊ ရူဟုလ်မအာနီ၊ အလ်ဗဟ်ရုလ်မုဟီးတ်၊

بَعْدِهِمْ مِّنْ بَعْدِ مَا جَآءَتْهُمُ
الْبَيِّنٰتُ وَلٰكِنِ اخْتَلَفُوْا فَمِنْهُمْ
مَّنْ اٰمَنَ وَمِنْهُمْ مَّنْ كَفَرَ ؕ
وَلَوْ شَآءَ اللّٰهُ مَا اقْتَتَلُوْا ۗ
وَلٰكِنَّ اللّٰهَ يَفْعَلُ
مَا يُرِيْدُ ﴿٢٥٣﴾

အကယ်စင်စစ် အလ္လာဟ် အရှင်မြတ်သည် အလိုဆန္ဒ ရှိတော်မူခဲ့ပါမူ ယင်း တမန်တော်များ ပွင့်ပြီးသည့်နောက် ရှိခဲ့သော နောက်လိုက်တပည့်သားတို့သည် မိမိတို့ထံဝယ် ထင်ရှားလှစွာသော သက်သေခံ လက္ခဏာ တော်များ ရောက်ရှိပြီးသည့် နောက် အချင်းချင်း သတ်ဖြတ်ကြမည် မဟုတ်ပေ၊ သို့ရာတွင် ယင်းသူတို့သည် အချင်းချင်း ကွဲလွဲကြ ပေရာ ထိုသူတို့အနက် အချို့တို့သည် ယုံကြည်ခြင်း သဒ္ဓါ တရားထားရှိ၍ အချို့မှာမူ 'ကုဖ်ရ်' သွေဖည် ငြင်းဆန် လျက်ပင် ရှိကြကုန်၏။

*အကယ်စင်စစ် အလ္လာဟ် အရှင်မြတ်သည် အလိုတော်ရှိခဲ့ပါလျှင်* [1] ထိုသူတို့သည် အချင်းချင်း သတ်ဖြတ်ကြမည် မဟုတ်ချေ။ သို့ရာတွင် အလ္လာဟ် အရှင်မြတ်သည် မိမိ အလိုတော်ရှိသည်များကို (မိမိ) ပြုလုပ်တော်မူလေသတည်း။

يٰٓاَيُّهَا الَّذِيْنَ اٰمَنُوْٓا اَنْفِقُوْا

**၂၅၄။** အို- "မုအ်မင်န်" ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိကြသူ အပေါင်းတို့၊

---

(၁) အလ္လာဟ်အရှင်မြတ်သည် မိမိအလိုတော်ရှိရာ အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသော အရှင်မြတ်ဖြစ်ပေရာ ကမ္ဘာသူ ကမ္ဘာသား လူသားအားလုံးတို့အား သာသနာ တခုတည်းအပေါ်၌ စုစည်းတော်မူလိုပါက မိမိ၏တန်ခိုးအာဏာတော်ဖြင့် စုစည်းတော်မူနိုင်ပေသည်။

သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် ဤကမ္ဘာကို လူသားတို့အား စမ်းသပ်ရာ ကမ္ဘာအဖြစ်ပင် ထားရှိတော်မူလိုသဖြင့် လူသားတို့အား တခုတည်းသော သာသနာအပေါ်၌ မိမိ၏အာဏာတော်ဖြင့် စုစည်းတော်မမူဘဲ လူသားတို့အား သာသနာရေးတွင် မိမိတို့ကြိုက်နှစ်သက်ကြသည့်အတိုင်း လွတ်လပ်စွာ လိုက်နာကျင့်သုံး နိုင်ခွင့်ကို ပေးထားတော်မူခဲ့လေသည်။

သာသနာရေးနှင့် စပ်လျဉ်း၍ သို့လွတ်လပ်ခွင့် ရှိကြသည့်အတိုင်း လူသားတို့သည် အချင်းချင်း တစ်ဦးနှင့်တစ်ဦး၊ တမျိုးနှင့်တမျိုး၊ အယူဝါဒအမျိုးမျိုး ကွဲပြားလာခဲ့ကြလေသည်။ အယူဝါဒကွဲပြားသည်မှအစ အချင်းချင်း ရန်ခိုက်ဒေါသ ဖြစ်ပွားသည့်အခြေသို့ပင် ဆိုက်ရောက်ခဲ့ကြလေသည်။ လူသားတို့တွင် အယူဝါဒ ကွဲပြားခဲ့သည်ကို ကမ္ဘာ့ရာဇဝင်တလျှောက်တွင် တွေ့ရှိနိုင်ပေသည်။ ကြည့်-မာဂျိဒီ။

مِمَّا رَزَقْنٰكُمْ مِّنْ قَبْلِ اَنْ يَّاْتِيَ يَوْمٌ لَّا بَيْعٌ فِيْهِ وَلَا خُلَّةٌ وَّلَا شَفَاعَةٌ ؕ وَالْكٰفِرُوْنَ هُمُ الظّٰلِمُوْنَ ۝٢٥٤

ငါအရှင်မြတ်သည် အသင်တို့အား ပေးသနားတော်မူသော ဥစ္စာပစ္စည်းများအနက်မှ (အချို့အ၀က်ကို) အသင်တို့သည် "ကိယာမတ်" နေ့မရောက်မီပင် လှူဒါန်းပေးကမ်းကြကုန်လော့။ ထိုနေ့တွင် မည်သည့် ရောင်း၀ယ်မှုမျှရှိမည်မဟုတ်၊ မိတ်ဆွေဖြစ်မှုလည်း ရှိမည်မဟုတ်၊ အသနားခံ တောင်းပေးမှုလည်းရှိမည် မဟုတ်။ "ကာဖိရ်" မယုံမကြည် သွေဖည်ငြင်းပယ်သောသူများသာလျှင် ကျူးကျော်စော်ကားသူများ ဖြစ်ကြသည်။

اَللّٰهُ لَاۤ اِلٰهَ اِلَّا هُوَ ۚ اَلْحَيُّ الْقَيُّوْمُ ۚ لَا تَاْخُذُهٗ سِنَةٌ وَّلَا نَوْمٌ ؕ لَهٗ مَا فِي السَّمٰوٰتِ وَمَا فِي الْاَرْضِ ؕ مَنْ ذَا الَّذِيْ يَشْفَعُ عِنْدَهٗۤ اِلَّا بِاِذْنِهٖ ؕ يَعْلَمُ مَا بَيْنَ اَيْدِيْهِمْ وَمَا خَلْفَهُمْ ۚ وَلَا يُحِيْطُوْنَ بِشَيْءٍ مِّنْ عِلْمِهٖۤ اِلَّا بِمَا شَآءَ ۚ وَسِعَ كُرْسِيُّهُ السَّمٰوٰتِ وَالْاَرْضَ ۚ وَلَا يَئُوْدُهٗ حِفْظُهُمَا ۚ وَهُوَ الْعَلِيُّ الْعَظِيْمُ ۝٢٥٥

**၂၅၅။** အလ္လာဟ်အရှင်မြတ်သည် (သာလျှင် ခ၀ပ်ကိုးကွယ်ရာ အရှင် ဖြစ်တော်မူ၏)။ ထို အရှင်မြတ်မှတပါး ကိုးကွယ်ခြင်းခံထိုက်သူဟူ၍ အလျှင်းမရှိပြီ။ (ထို အရှင်မြတ်သည်) အမြဲ ရှင်နေတော် မူသော အရှင်၊ (မိမိကိုယ်တော်တိုင် ထာ၀ရတည်နေတော်မူ၍ သတ္တ၀ါအပေါင်းတို့ကိုလည်း) ထိန်းသိမ်းစောင့်ရှောက်တော်မူသော အရှင် ဖြစ်တော်မူ၏။ ထို အရှင်မြတ်အား ငိုက်မျဉ်းခြင်းသည်၎င်း ၊ အိပ်စက်ခြင်းသည်၎င်း မဖိစီးနိုင်ပေ။ ထိုအရှင်မြတ်သည်သာလျှင် အာကာသ ကောင်းကင်များနှင့် မြေဌှိရှိရှိသမျှသော (သက်ရှိသက်မဲ့)အရာ၀တ္ထုဟူသမျှတို့ကို ပိုင်ဆိုင်တော်မူသော အရှင် ဖြစ်တော်မူသည်။ ထိုအရှင်မြတ်၏ အထံတော်၌ ထိုအရှင်မြတ်၏ ခွင့်ပြုချက်မရှိဘဲ သူတစ်ပါးအတွက် အသနားခံ တောင်းပန်ပေး နိုင်သူကား အဘယ်သူနည်း။ ထိုအရှင်မြတ်သည် ထိုသူတို့၏ ရှေ့နောက်အဖြစ်အပျက် အကြောင်းကိစ္စအလုံးစုံတို့ကို အကြွင်းမဲ့ သိရှိတော် မူလေသည်။ သို့ရာတွင် ယင်းသူတို့သည် ထိုအရှင်မြတ် သိရှိတော်မူသော အကြောင်းကိစ္စ အဖြစ်အပျက်တို့ အနက်မှ

ထိုအရှင်မြတ် အလိုရှိတော်မူသော အကြောင်းကိစ္စမှ အပ တစုံတရာကိုမျှ ဝန်းခြံ၍ မသိနိုင်ကြပေ။ ထိုအရှင်မြတ်၏ ဉာဏ်တော်သည် အာကာသ ကောင်းကင်များနှင့်တကွ ကမ္ဘာမြေပြင် တခွင်လုံးကို ဝန်းခြံလျက်ရှိချေ၏။ သို့ရာတွင် ယင်းမိုးကောင်းကင် နှင့်တကွ ကမ္ဘာမြေပြင်ကို ထိန်းသိမ်းစောင့်ရှောက်ခြင်း သည် ထိုအရှင်မြတ်အား ပင်ပန်း နွမ်းရိစေသည် မဟုတ်ပေ။ စင်စစ်တမူကား ထို အရှင်မြတ်သည် (မကြံစည်နိုင်အောင်) မြင့်မြတ်တော်မူသောအရှင်၊ ကြီးကဲ ထွတ်မြတ်တော်မူသောအရှင်တည်း။ ၁

လَاۤ اِكْرَاهَ فِى الدِّيْنِ قَدْ تَّبَيَّنَ الرُّشْدُ مِنَ الْغَيِّ فَمَنْ يَّكْفُرْ بِالطَّاغُوْتِ وَيُؤْمِنْ بِاللّٰهِ فَقَدِ اسْتَمْسَكَ بِالْعُرْوَةِ

၂၅၆။ ဖြောင့်မတ်မှန်ကန်သော (အစ္စလာမ်သာသနာ တော်၏) တရားလမ်းစဉ်သည် မမှန်ကန်သော လမ်းစဉ်နှင့် (သိသိသာသာ) ရှင်းလင်းထင်ရှားစွာ ကွဲပြားခြားနားလျက်ရှိနေပြီဖြစ်ပေရာ (မည်သူတစ်ဦး တစ်ယောက်ကိုမျှ အစ္စလာမ်)သာသနာတော်တွင်း၌ (ဝင်ရောက်ရန်အတွက်) အတင်းအဓမ္မ အနိုင်အထက် အလျင်းမပြုရ။

(၁) ဤမုက္ခပါဌ်တော်၏ အမည်နာမမှာ ***'အာယတုလ်ကုရ်စီ'*** ဟူ၍ဖြစ်၏။ ဤမုက္ခပါဌ်တော်တွင် အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကို ပြည့်ဝစုံလင်စွာ ဖွင့်ဟမိန့်ဆို ထားတော်မူ၏။ ဤမုက္ခပါဌ်တော်၏ တန်ခိုးတော်များကား ကြီးမားလှ၏။ ထို့အတွက်ကြောင့်ပင်လည်း ဤမုက္ခပါဌ်တော်၏ ထွတ်မြတ်ခြင်း အကြောင်းများကို 'ဟဒီဆ်' ကျမ်းကြီးများတွင် အများအပြားတွေ့ရှိရပေသည်။ ဤတွင် ဤမုက္ခပါဌ်တော်နှင့် စပ်လျဉ်း၍ နဗီတမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ အချို့သြဝါဒတော်ကို အောက်တွင် ရေးသား ဖော်ပြလိုပေသည်။

အကြင်သူတစ်ဦးသည် 'ဖရည်ွ်ဆွလာတ်' ဝတ်ပြုပြီးသည့်အခါတိုင်းတွင် 'အာယတုလ်ကုရ်စီ' ကို ရွတ်ဘတ်သရဇ္ဈာယ်သည်ရှိသော် ထိုသူအား 'ဂျန္နတ်' သို့ ဝင်ရောက်ရန် မရဏာသေခြင်း တရားမှအပ အဘယ်တစ်စုံတရာကမျှ ပိတ်ပင်တားဆီးနိုင်သည်မရှိချေ။ သေခြင်းအမှုသည်သာလျှင် ကျန်ရှိပေတော့သည်။

အကြင်သူတစ်ဦးသည် မိမိအိပ်ရာသို့ ဝင်သောအခါ 'အာယတုလ်ကုရ်စီ' ကို ရွတ်ဘတ် သရဇ္ဈာယ် သည်ရှိသော် အလ္လာဟ် အရှင်မြတ်သည် ထိုသူ့အားငှင်း၊ ထိုသူ၏ အိမ်နီးချင်းကိုငှင်း၊ ထိုသူ၏အိမ်နီးချင်း၏ အိမ်နီးချင်း ကိုငှင်း၊ ထိုသူ၏ ပတ်ဝန်းကျင်ရှိ အိမ်များ ကိုငှင်း (ဘေးရန် ခပ်သိမ်းတို့မှ) ကင်းငြိမ်း စေတော်မူအံ့။

الْوُثْقٰى لَا انْفِصَامَ لَهَا ۗ
وَاللّٰهُ سَمِيْعٌ عَلِيْمٌ ﴿٢٥٦﴾

သို့ဖြစ်၍ အကြင်သူ တစ်ဦးတစ်ယောက်သည် (အလ္လာဟ်အရှင်မြတ်မှအပ လူသားတို့ မှတ်ယူထားသော မမှန်ကန်သော ကိုးကွယ်ရာများကို) သွေဖည်ငြင်းဆန် (စွန့်လွှတ်ပယ်ရှား)ကာ (တဆူတည်းသော) အလ္လာဟ်အရှင်မြတ် ကိုသာလျှင် ယုံကြည်ကိုးကွယ်ပါမူ ဧကန်အမှန် ထိုသူသည် အလွန်ခိုင်မြဲ၍ ယုံကြည် အားကိုးဘွယ်ရာ ဖြစ်သည့်ပြင် မည်သည့်အခါမျှ ကျိုးပျက်ခြင်းအလျင်းမရှိသော ကြိုးကွင်းကို မြဲမြံစွာဆွဲကိုင်ထားသူဖြစ်ချေပြီ။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် (အသင်တို့၏ နှုတ်လျှာမှထွက်ဆိုသော အကြောင်းအရာများကို) အလုံးစုံကြားတော်မူသောအရှင်၊ (အသင်တို့စိတ်တွင်း၌ လျှို့ဝှက်သောအကြောင်းအရာ) ခပ်သိမ်းတို့ကိုလည်း အကြွင်းမရှိ သိရှိတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

اَللّٰهُ وَلِيُّ الَّذِيْنَ اٰمَنُوْا
يُخْرِجُهُمْ مِّنَ الظُّلُمٰتِ اِلَى
النُّوْرِ ۗ وَالَّذِيْنَ كَفَرُوْٓا
اَوْلِيٰٓـُٔهُمُ الطَّاغُوْتُ
يُخْرِجُوْنَهُمْ مِّنَ النُّوْرِ
اِلَى الظُّلُمٰتِ ۗ اُولٰٓئِكَ
اَصْحٰبُ النَّارِ ۚ هُمْ فِيْهَا

၂၅၇။ အလ္လာဟ် အရှင်မြတ်သည် ယုံကြည်ခြင်းသဒ္ဓါတရား ထားရှိသူ အပေါင်းတို့ကို (အထူးကြည့်ရှုစောင်မတော် မူသော) အဆွေခင်ပွန်းပင်တည်း။ ထိုအရှင်မြတ်သည် ယင်းယုံကြည်သူအပေါင်းတို့ကို ("ကုဖ်ရ်" တည်းဟူသော) အမိုက်မှောင်များ အတွင်းမှ (အစ္စလာမ်တည်းဟူသော) အလင်းရောင်သို့ ထုတ်ယူပို့ဆောင်တော်မူလေသည်။ သို့ရာတွင် မယုံမကြည် သွေဖည်ငြင်းပယ်သော သူတို့၏ အဆွေခင်ပွန်းများမှာမူကား ရှိုင်တွာန်များပင်တည်း။ ယင်းရှိုင်တွာန်များသည် ထိုသူတို့အား (အစ္စလာမ်တည်းဟူသော) အလင်းရောင်မှ "ကုဖ်ရ်" တည်းဟူသော အဝိဇ္ဇာ အမိုက်မှောင်အတွင်းသို့ ပို့ဆောင်ကြကုန်၏။

خٰلِدُوْنَ ﴿٢٥٧﴾

ယင်းကဲ့သို့ (အစ္စလာမ်သာသနာတော်ကို) မယုံမကြည် သွေဖည်ငြင်းပယ်သောသူတို့သည် ငရဲသားများဖြစ်ကြရကား ထိုငရဲ၌ပင် ထာဝစဥ်ခံစား နေထိုင်ကြရမည့်သူများ ဖြစ်ကြပေသတည်း။

اَلَمْ تَرَ اِلَى الَّذِىْ حَآجَّ
اِبْرٰهٖمَ فِىْ رَبِّهٖٓ اَنْ اٰتٰىهُ
اللّٰهُ الْمُلْكَ اِذْ قَالَ اِبْرٰهٖمُ
رَبِّىَ الَّذِىْ يُحْىٖ وَيُمِيْتُۙ
قَالَ اَنَا اُحْىٖ وَاُمِيْتُؕ قَالَ
اِبْرٰهٖمُ فَاِنَّ اللّٰهَ يَاْتِىْ
بِالشَّمْسِ مِنَ الْمَشْرِقِ
فَاْتِ بِهَا مِنَ الْمَغْرِبِ فَبُهِتَ
الَّذِىْ كَفَرَؕ وَاللّٰهُ لَا يَهْدِى
الْقَوْمَ الظّٰلِمِيْنَ ﴿٢٥٨﴾

**၂၅၈။** (အို-နဗီတမန်တော်) အသင်သည် အကြင် (ဘုရင်)၏ အကြောင်းကို လေ့လာဆင်ခြင်ပြီး မဟုတ်ပါလော။ အလ္လာဟ် အရှင်မြတ်သည် ထိုဘုရင်အား သြဇာအာဏာတိက္ကမ ပေးသနားတော်မူထားသည့်အတွက်ကြောင့် ထိုဘုရင်သည် (စောင်းမာန်တက်ကြွပြီး) နဗီတမန်တော် အီဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်)အား မွေးမြူတော်မူသော အရှင်နှင့် ပတ်သက်၍ ထိုတမန်တော် အီဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်)နှင့် အငြင်းအခုံ ပြုခဲ့လေသည်။ အခါတပါး၌ နဗီတမန်တော် အီဗ်ရာဟီမ် (အလိုင် ဟစ္စလာမ်)က (ယင်း ဘုရင်၏ မေးခွန်းကို အကြောင်းပြု၍) 'ငါ့အား မွေးမြူတော်မူသော အရှင်မြတ်သည် (သက်မဲ့ အပေါင်းတို့ကို) ရှင်စေတော်မူသောအရှင်၊ (သက်ရှိ အပေါင်းတို့ကို) သေစေတော်မူသောအရှင်ပင် ဖြစ်တော်မူပေသည်' ဟု ဖြေကြားခဲ့လေသည်။ ထိုအခါ ထို(ဘုရင်)က 'ငါသည်လည်း (မိမိ အလိုရှိသူကို သေဒဏ်မှ လွတ်မြောက်စေခြင်းအားဖြင့်) ရှင်စေနိုင်သည်၊ ထိုနည်းတူစွာ ငါသည်လည်း (မိမိအလိုရှိသူကိုသတ်စေခြင်းအားဖြင့်) သေစေနိုင်သည်' ဟု ပြန်လည်ပြောကြားရာ နဗီတမန်တော် အီဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်) က (ထိုဘုရင်၏ အသိဉာဏ် ခေါင်းပါးမှုကို ထောက်ရှုကာ) ဧကန်စင်စစ် (ငါ၏ ကိုးကွယ်ရာအရှင် ဖြစ်တော်မူသော) အလ္လာဟ် အရှင်မြတ်သည် သူရိယနေကို အရှေ့ဘက်မှ

ထွက်စေတော်မူလေသည်။ အသင်သည် (အလ္လာဟ် အရှင်မြတ်ကဲ့သို့ တန်ခိုး အာနုဘော်နှင့် ပြည့်စုံပါလျှင်) ထိုသူရိယနေကို အနောက်ဘက်မှ ထွက်စေပါလေ' ဟု (တနည်းပြောင်း၍) ပြောကြားပြန်လေသည်။ ထိုအခါ (အလ္လာဟ်အရှင်မြတ်ကို) မယုံမကြည်သွေဖည်ငြင်းပယ်သော (ဘုရင်)သည် (တစုံတရာမျှ တုံ့ပြန် ဖြေကြားနိုင်သည်မရှိဘဲ) မိန်းမောတွေဝေ အံ့အားသင့်၍ သွားလေတော့သည်။ စင်စစ် တမူကား အလ္လာဟ် အရှင်မြတ်သည် (ယင်းကဲ့သို့) မတော်မတရား ကျူးလွန်သော သူများအား တရားလမ်းမှန်ကို ညွှန်ကြား ပြသတော်မမူချေ။

၂၅၉။ ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် အကြင်သူ၏ အဖြစ်အပျက်ကို လေ့လာဆင်ခြင်သုံးသပ်ပြီးဖြစ်သည် မဟုတ်ပါလော။ ထိုသူသည် (အိမ်ခေါင်မိုးများပြိုကျကာ နံရံများသည်လည်း) ခေါင်မိုးများပေါ်သို့ ပြိုကျ၍ ပျက်စီးလျက်ရှိသော မြို့ရွာတရွာကို ဖြတ်သန်းသွားလေရာ "အလ္လာဟ် အရှင်မြတ်သည် ဤမြို့ရွာကို ပျက်စီးပြီးနောက် အဘယ်နည်းဖြင့် ပြန်လည် (ရှင်စေ) ထူထောင်တော်မူအံ့နည်း" ဟု (မိမိစိတ်တွင်းဝယ် အံ့သြကြီးစွာဖြင့် တွေးဆ) ပြောဆိုလေသည်။ သို့ဖြစ်ပေရာ အလ္လာဟ် အရှင်မြတ်သည် ထိုသူအား နှစ်ပေါင်းတရာတိတိ သေစေတော်မူခဲ့လေ၏။ ထို့နောက်တဖန် ထိုအရှင်မြတ်သည် ထိုသူအားရှင်စေတော်မူ၍ "အသင်သည် (ဤနေရာ၌)မည်မျှတိုင်အောင် ကြာမြင့်စွာနေခဲ့ပါသနည်း" ဟု မေးမြန်းတော်မူလေရာ ထိုသူက ကျွန်တော်မျိုးသည် တနေ့တိတိ သို့တည်းမဟုတ် တနေ့လျော့လျော့နေခဲ့ပါသည်" ဟု လျှောက်ထားလေသည်။

أَوْ كَالَّذِي مَرَّ عَلَىٰ قَرْيَةٍ
وَهِيَ خَاوِيَةٌ عَلَىٰ عُرُوشِهَا ۚ
قَالَ أَنَّىٰ يُحْيِي هَٰذِهِ اللَّهُ بَعْدَ
مَوْتِهَا ۖ فَأَمَاتَهُ اللَّهُ مِائَةَ
عَامٍ ثُمَّ بَعَثَهُ ۖ قَالَ كَمْ لَبِثْتَ ۖ
قَالَ لَبِثْتُ يَوْمًا أَوْ بَعْضَ
يَوْمٍ ۖ قَالَ بَل لَّبِثْتَ مِائَةَ
عَامٍ فَانظُرْ إِلَىٰ طَعَامِكَ
وَشَرَابِكَ لَمْ يَتَسَنَّهْ ۖ
وَانظُرْ إِلَىٰ حِمَارِكَ

وَلِنَجْعَلَكَ اٰيَةً لِّلنَّاسِ وَانْظُرْ اِلَى الْعِظَامِ كَيْفَ نُنْشِزُهَا ثُمَّ نَكْسُوْهَا لَحْمًا ۚ فَلَمَّا تَبَيَّنَ لَهٗ ۙ قَالَ اَعْلَمُ اَنَّ اللّٰهَ عَلٰى كُلِّ شَیْءٍ قَدِيْرٌ ﴿٢٥٩﴾

(ထိုအခါ အလ္လာဟ် အရှင်မြတ်က) "ဤသို့မဟုတ်၊ စင်စစ်မှာကား အသင်သည်နှစ်ပေါင်း တရာမျှတိုင်အောင် နေခဲ့လေပြီ။ အသင်သည် မိမိ၏ စားဘွယ် သောက်ဘွယ်ရာများကို ရှုပါလေ၊ ထို စားဘွယ်ရာများသည် (ဤမျှ နှစ်ကာလ ပရိစ္ဆေဒ ကြာမြင့်သော်လည်း စိုးစဉ်းမျှ) ပုပ်သိုးနံစော်ခြင်းမရှိပြီ။ တဖန် (မိမိ စီးနင်း၍လာသော) မြည်းတိရိစ္ဆာန်ကို (လည်း) ကြည့်ပါလေ၊ စင်စစ်တမူကား ငါအရှင်မြတ်သည် အသင့်ကို (ယင်းကဲ့သို့သေစေတော်မူပြီး တဖန်ရှင်စေတော် မူခြင်းမှာ လူခပင်းတို့ အဘို့ သက်သေခံ လက္ခဏာတရပ် ပြုလုပ်တော်မူရန်ပင် တည်း။ ထိုနည်းတူစွာ ငါအရှင်မြတ်သည် (အသင် စီးနင်း၍လာသော မြည်းတိရိစ္ဆာန်၏) အရိုးများကို မည်သည့်နည်းမျိုးဖြင့် ဆက်စပ်တော်မူ၍ အသားဖြင့် ဖုံးအုပ်ပေးတော်မူသည်ကိုလည်း ရှုပါလေ" ဟု မိန့်ကြားတော်မူလေသည်။ ထို့နောက် (အလ္လာဟ် အရှင်မြတ်မိန့်ကြားတော်မူသည့်အတိုင်း အဖြစ် အပျက်အလုံးစုံတို့သည်) ထိုသူ့အဘို့ရာ ထင်ရှား လာသောအခါ ထိုသူက "မုချဧကန် အလ္လာဟ်အရှင် မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော် မူသောအရှင်မြတ်ဖြစ်တော်မူသည်ကို ကျွန်တော်မျိုး (မျက်မြင်ဒိဋ္ဌသိမြင်) ယုံကြည်ပါပြီ"ဟု လျှောက်ထား လေသတည်း။

وَاِذْ قَالَ اِبْرٰهٖمُ رَبِّ اَرِنِیْ كَيْفَ تُحْیِ الْمَوْتٰى ۚ قَالَ اَوَلَمْ تُؤْمِنْ ۚ قَالَ بَلٰى

၂၆၀။ ၎င်းပြင် (အို–နဗီတမန်တော်) အသင်သည် ပြန်လည်အောက်မေ့ သတိရပါလေ။ တရံရောအခါ နဗီတမန်တော် အီဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်) သည် (အလ္လာဟ်အရှင်မြတ် အထံတော်၌ ဤသို့) လျှောက် ထားခဲ့လေသည်။

وَلٰكِنْ لِّيَطْمَئِنَّ قَلْبِيْ ۚ قَالَ فَخُذْ اَرْبَعَةً مِّنَ الطَّيْرِ فَصُرْهُنَّ اِلَيْكَ ثُمَّ اجْعَلْ عَلٰى كُلِّ جَبَلٍ مِّنْهُنَّ جُزْءًا ثُمَّ ادْعُهُنَّ يَاْتِيْنَكَ سَعْيًا ۚ وَاعْلَمْ اَنَّ اللّٰهَ عَزِيْزٌ حَكِيْمٌ ﴿٢٦٠﴾

အို-ကျွန်တော်မျိုးအား မွေးမြူတော်မူသော အရှင်မြတ်၊ အရှင်မြတ်သည် (ရှင်ပြန်ထမည့် နေ့တွင်)သေသူများအား မည်သည့်နည်းဖြင့် ရှင်စေတော်မူမည်ကို ကျွန်တော်မျိုးအား ပြသတော်မူပါ။ ၁ ထိုအခါ အလ္လာဟ်အရှင်မြတ်က “ (အို-နဗီတမန်တော်အီဗ်ရာဟီမ်) အသင်သည် (သေသူတို့အား ငါအရှင်မြတ် ရှင်ပြန်ထစေတော်မူမည်ကို) မယုံကြည်ပါသလော” ဟု မေးမြန်းတော်မူရာ နဗီတမန်တော် အီဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်)က ထိုသို့မဟုတ်ပါ၊ မုချပင်ယုံကြည်ပါ၏။ သို့ရာတွင် မိမိစိတ်နှစ်သိမ့်ကျေနပ်ရန် အလို့ငှါ (လျှောက်ထားခြင်းသာ ဖြစ်ပါသည်)ဟု လျှောက်ထားလေသည်။ ထိုအခါ အလ္လာဟ် အရှင်မြတ်က “သို့ဖြစ်လျှင် (အို-အီဗ်ရာဟီမ်) အသင်သည် ငှက်သတ္တဝါ လေးကောင် ကို (ဖမ်း) ယူပြီးလျှင် ထိုငှက်သတ္တဝါများကို မိမိထံ၌ အပိုင်းပိုင်း ဖြတ်တောက်၍ (မိမိပတ်ဝန်းကျင်၌ ရှိသော) တောင်အသီးသီးတို့ပေါ်ဝယ် ထားပါလေ။ ထို့နောက် သင်သည် ယင်း ငှက်သတ္တဝါတို့ကို ဟစ်အော်၍ ခေါ်ပါလေ။ ယင်း ငှက်သတ္တဝါတို့သည် (ရှင်ပြန်ထ၍) အသင့်ထံပြေး၍ လာကြလိမ့်မည်။ ထို့ပြင် မုချဧကန် အလ္လာဟ်အရှင်မြတ်သည် ဘုန်းတန်ခိုး အာနုဘော်ဖြင့် လွှမ်းမိုးတော်မူသောအရှင်၊ ထူးကဲသော ဉာဏ်အမြော်အမြင်နှင့် ပြည့်စုံတော် မူသော အရှင်ဖြစ်တော်မူသည်ကို အသင် ယုံကြည်မှတ်ယူပါလေ” ဟု မိန့်ကြားတော်မူလေသတည်း။

---

(၁) နောင် တမလွန်ဘဝ၌ အလ္လာဟ် အရှင်မြတ်သည် သူသေ ခပ်သိမ်းတို့အား ပြန်လည် ရှင်ထစေတော်မူမည့် အကြောင်းသည် 'အီမာန်' ယုံကြည်ခြင်း သဒ္ဒါတရားတွင် အပါအဝင်ဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ် (၂း၂၅၉ -၂၆၀)တွင် ဖော်ပြပါရှိသော တမန်တော် အုဇိုင်ရ် (အလိုင်ဟစ္စလာမ်) ➤➤

مَثَلُ الَّذِيْنَ يُنْفِقُوْنَ أَمْوَالَهُمْ فِيْ سَبِيْلِ اللّٰهِ كَمَثَلِ حَبَّةٍ أَنْۢبَتَتْ سَبْعَ سَنَابِلَ فِيْ كُلِّ سُنْۢبُلَةٍ مِّائَةُ حَبَّةٍ ۗ وَاللّٰهُ يُضٰعِفُ لِمَنْ يَّشَآءُ ۗ وَاللّٰهُ وَاسِعٌ عَلِيْمٌ ﴿٢٦١﴾

**၂၆၁။** မိမိတို့၏ ဥစ္စာပစ္စည်းများကို *အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌* [၁] ပေးကမ်းလှူဒါန်း သုံးစွဲသူတို့၏ (အလှူပစ္စည်းများသည်) အကြင်မျိုးစေ့နှင့်အလားတူ၏။ ယင်းမျိုးစေ့သည် ကောက်နှံခုနစ်နှံကို ပေါက်ရောက်စေ၏။ ထိုကောက်နှံအသီးသီးတို့တွင် အစေ့ပေါင်း တရာစီပါရှိလေသည်။ စင်စစ်မှုကား အလ္လာဟ်အရှင်မြတ်သည် မိမိနှစ်လိုတော်မူသောသူတို့အတို့ (ယင်းကဲ့သို့ပင်) *ဆထက်ထမ်းပိုးတိုးပွားစေတော်မူလေသည်။* [၂] အကြောင်းသော်ကား အလ္လာဟ်အရှင်မြတ်သည် ရက်ရောစွာ ပေးသနားတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမရှိ သိတော်မူသောအရှင် ဖြစ်တော်မူလေသတည်း။

---

➤➤ နှင့် တမန်တော် အီဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်) တို့၏ အတ္ထုပ္ပတ္တိများသည် နောင်တမလွန်ဘ၀တွင် ပြန်လည်ရှင်ထခြင်းအတွက် အလွန်ထင်ရှားသော သက်သေ သာဓကများပင် ဖြစ်ချေသည်။

(၁) အစ္စလာမ် သာသနာရေး ကိစ္စအဝဝအားလုံးတို့သည် 'အလ္လာဟ်အရှင်မြတ်၏လမ်းတော်' ဟူသော စကားတွင် အကျုံးဝင်လျက်ရှိပေသည်။ ကြည့်-(အလ်မနာရ်)၊ (မာဂျိဒီ)။

(၂) အလ္လာဟ်အရှင်မြတ်၏ တရားလမ်းတော်၌ ပြုလုပ်သော အလှူဒါနများ၏ ကုသိုလ် အကျိုးများကို ထိုအရှင်မြတ်သည် လှူဒါန်းသူ၏ စိတ်စေတနာ သဒ္ဓါတရားအလျောက် (ဟီန၊ မဇ္ဈိမ၊ ပဏီတ) အငယ်၊ အလတ်၊ အမြတ်အားဖြင့် အချို့တို့အား ၁၀-ဆတိုးမြှင့်၍ ပေးသနားတော်မူသည်၊ ကြည့်-ကုရ်အာန်-(၆း၁၆၀)၊

အချို့တို့အား အဆပေါင်း ၇၀၀-တိုး၍ ပေးသနားတော်မူ သည်၊ ကြည့်-ကုရ်အာန် (၂း၁၆၁)၊

အချို့တို့ကိုမူကား အသချေ်အသင်္ချာ မရေမတွက်နိုင်အောင် ပေးသနားတော်မူသည်၊ ကြည့်-ကုရ်အာန် (၂း၂၁၁၊ ၂၄း၃၈၊ ၃၉း၁၀၊ ၄၀း၄၀)။

<u>**ဆက်စပ်မှု။**</u>

အထက်တွင် မိန့်ဆိုခဲ့ပြီးသော မုက္ခပါဌ်တော်တွင် အလ္လာဟ်အရှင်မြတ်၏ တရားလမ်းတော်၌ ပြုလုပ်သော အလှူဒါနများ၏ ကုသိုလ်အကျိုးများကို အလ္လာဟ်အရှင်မြတ်သည် ဆထက်ထမ်းပိုးတိုး၍ ချီးမြှင့်တော်မူသည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

ယခုလာလတ္တံ့သော မုက္ခပါဌ်တော်တွင် လှူဒါန်းပေးကမ်းရာ၌ လိုက်နာအပ်သော စည်းကမ်းချက်များကို ထုတ်ဖော် မိန့်ဆိုထားတော်မူသည်။

ٱلَّذِينَ يُنفِقُونَ أَمْوَٰلَهُمْ فِى سَبِيلِ ٱللَّهِ ثُمَّ لَا يُتْبِعُونَ مَآ أَنفَقُوا۟ مَنًّا وَلَآ أَذًى ۙ لَّهُمْ أَجْرُهُمْ عِندَ رَبِّهِمْ وَلَا خَوْفٌ عَلَيْهِمْ وَلَا هُمْ يَحْزَنُونَ ٢٦٢

၂၆၂။ အကြင်သူတို့သည် မိမိတို့၏ ဥစ္စာပစ္စည်းများကို အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ ပေးကမ်းလှူဒါန်းသုံးစွဲကြကုန်၏။ ထိုကဲ့သို့ပေးကမ်းစွန့်ကြဲသုံးစွဲပြီးသည့်နောက် ယင်းသူတို့သည် (မိမိတို့စွန့်ကြဲပေးကမ်းသော သူဆင်းရဲတို့အား) ဂုဏ်ဖော်ခြင်းလည်းမပြုကြချေ၊ ထိုနည်းတူစွာ မည်သည့်ဒုက္ခရောက်စေခြင်းကိုမှလည်း မပြုကြချေ။ ထိုကဲ့သို့သော သူတို့အဘို့ ယင်းသူတို့အား မွေးမြူတော်မူသော အရှင်မြတ်၏အထံတော်၌ ကုသိုလ် အကျိုးများရှိသည်။ ယင်းသူတို့အဘို့ မည်သည့်စိုးရိမ်ကြောင့်ကြခြင်းမျှလည်းမရှိ။ ယင်းသူတို့သည် ပူဆွေးကြမည်လည်းမဟုတ်ကြချေ။

قَوْلٌ مَّعْرُوفٌ وَمَغْفِرَةٌ خَيْرٌ مِّن صَدَقَةٍ يَتْبَعُهَآ أَذًى ۗ وَٱللَّهُ غَنِىٌّ حَلِيمٌ ٢٦٣

၂၆၃။ (ပေးကမ်း လှူဒါန်းခြင်းမပြုနိုင်သော အချိန်အခါဝယ် သူဖုန်းစားသူဆင်းရဲတို့အား) ကောင်းမြတ်သော စကားတခွန်း ပြောဆိုခြင်းသည်လည်းကောင်း၊ (သူဖုန်းစားသူဆင်းရဲတို့၏ ဖွတ်တရွတ် မဖွယ်မရာ ပြောဆိုပြုလုပ် သည်များကို) ခွင့်လွှတ်ခြင်းသည်လည်းကောင်း (ဥစ္စာပစ္စည်း) ပေးကမ်းစွန့်ကြဲလှူဒါန်းပြီးနောက် (ယင်းသူဆင်းရဲတို့အား အထင်အမြင်သေးခြင်း စသည်တို့ဖြင့်) စိတ်ဒုက္ခရောက်စေခြင်းထက် (အဆပေါင်း များစွာ) သာလွန်၍ကောင်းမြတ်ပေသတည်း။ စင်စစ်တမူကား အလ္လာဟ်အရှင်မြတ်သည် အလွန်ကြွယ်ဝတော်မူသော အရှင်၊ ခမာဂုဏ်နှင့် အလွန်ပြည့်စုံတော်မူသော အရှင်မြတ်ဖြစ်တော်မူလေသတည်း။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟

၂၆၄။ အို-ယုံကြည်ခြင်း သဒ္ဓါတရားထားရှိသူအပေါင်းတို့၊ အသင်တို့သည် မိမိတို့၏ အလှူဒါနများကို ကျေးဇူး ဖော်ခြင်း အားဖြင့်၎င်း၊ စိတ်

لَا تُبْطِلُوْا صَدَقٰتِكُمْ بِالْمَنِّ
وَالْاَذٰى ۙ كَالَّذِىْ يُنْفِقُ
مَالَهٗ رِئَآءَ النَّاسِ وَلَا يُؤْمِنُ
بِاللّٰهِ وَالْيَوْمِ الْاٰخِرِ ؕ فَمَثَلُهٗ
كَمَثَلِ صَفْوَانٍ عَلَيْهِ تُرَابٌ
فَاَصَابَهٗ وَابِلٌ فَتَرَكَهٗ صَلْدًا ؕ
لَا يَقْدِرُوْنَ عَلٰى شَىْءٍ مِّمَّا
كَسَبُوْا ؕ وَاللّٰهُ لَا يَهْدِى
الْقَوْمَ الْكٰفِرِيْنَ ﴿٢٦٤﴾

ဒုက္ခ ရောက်စေခြင်း အားဖြင့်၎င်း၊ အကြင်သူကဲ့သို့ အချည်းနှီး မဖြစ်စေကြကုန်လင့်။ ထိုသူသည် အလ္လာဟ်အရှင်မြတ်နှင့်နောက်ဆုံးနေ့ကို မယုံကြည်ဘဲလျက် လူတို့အား ပြစားရန်အလို့ငှါသာ မိမိ ဥစ္စာပစ္စည်းကို လှူဒါန်းပေးကမ်း၏။ သို့ဖြစ်လေရာ ထိုသူသည် သွေ့ခြောက်ချောမွတ် မာကျောပြောင်လက်သော ကျောက်တုံးနှင့် အလားသဏ္ဌာန်တူ၏၊ ထိုကျောက်တုံးပေါ်တွင် အနည်းငယ် မြေမှုန့်တင်လျက်ရှိ၏၊ ထိုကျောက်တုံးပေါ်၌ သည်းထန်သော မိုးသည် ရွာသွန်းချလိုက်ရာ (မြေမှုန့်များသည် မိုးရေနှင့်အတူ မျောပါ၍သွားသဖြင့်) ထိုကျောက်တုံးသည် ပြကတေ့အတိုင်း ကျောက်သားမျှသာ ပြောင်လက်စွာ ကျန်ရှိခဲ့လေသည်။ ထိုကဲ့သို့သော သူများသည် မိမိတို့ ရှာဖွေ ဆည်းပူးခဲ့ကြသော ကောင်းမှု ကုသိုလ်များအနက် အဘယ်တစုံတရာကိုမျှပင် (နောင် 'ကိယာမတ်' နေ့တွင်) ရရှိနိုင်ကြမည် မဟုတ်ချေ။ (ဤသူတို့ကား ကျောက်တုံးနှင့်အလားသဏ္ဌာန်တူသော ကာဖိရ်များသာ ဖြစ်ကြပေသည်)၊ အလ္လာဟ် အရှင်မြတ်သည် (ယင်းကဲ့ သို့သော) 'ကာဖိရ်' တို့အား တရားခမ္မ ညွှန်ပြတော်မူမည် မဟုတ်ချေ။

وَمَثَلُ الَّذِيْنَ يُنْفِقُوْنَ
اَمْوَالَهُمُ ابْتِغَآءَ مَرْضَاتِ
اللّٰهِ وَتَثْبِيْتًا مِّنْ اَنْفُسِهِمْ
كَمَثَلِ جَنَّةٍ ۢبِرَبْوَةٍ اَصَابَهَا

၂၆၅။ အကြင်သူတို့သည် အလ္လာဟ်အရှင်မြတ်၏ နှစ်သက်တော်မူခြင်းကို ဆည်းပူးရှာဖွေရန်၎င်း၊ မိမိတို့၏ စိတ်နှလုံးများတွင် (သဒ္ဒါတရား) ထက်သန်မြဲမြံ ခိုင်ခန့်စေရန်၎င်း မိမိတို့၏ ဥစ္စာပစ္စည်းများကို ပေးကမ်းလှူဒါန်း စွန့်ကြဲကြကုန်၏။ ထိုသူတို့ (လှူဒါန်းသောအလှူဒါန)၏ ဥပမာသည် ကုန်းမြင့်ပေါ်တွင်ရှိသော ဥယျာဉ်နှင့် အလားသဏ္ဌာန်တူ၏။

وَابِلٌ فَاٰتَتْ اُكُلَهَا ضِعْفَيْنِ ۚ فَاِنْ لَّمْ يُصِبْهَا وَابِلٌ فَطَلٌّ ؕ وَاللّٰهُ بِمَا تَعْمَلُوْنَ بَصِيْرٌ ﴿٢٦٥﴾

ထိုဥယျာဉ်၌ သည်းထန်သောမိုးသည် ရွာသွန်းချ၏။ သို့ဖြစ်လေရာ ထိုဥယျာဉ်သည် မိမိ၏ အသီးအနှံများကို (အခြားသောဥယျာဉ်များထက်) နှစ်ဆတိုး၍ ပေါက်ပွားစေလေသည်။ အကယ်၍ ထိုဥယျာဉ်၌ သည်းထန်သောမိုး ရွာသွန်းခြင်း မရှိသော်လည်း (မြေဩဇာ ကောင်းသည့်အတွက်ကြောင့်) မိုးဖွဲကျခြင်းသည်ပင် (ထိုဥယျာဉ်အတွက် လုံလောက်ပေသည်)။ အမှန်သော်ကား အလ္လာဟ် အရှင်မြတ်သည် သင်တို့ ပြုလုပ်သမျှသော ကိစ္စအဝဝကို အကြွင်းမဲ့ ခွဲခြား သိမြင်တော် မူသောအရှင်ဖြစ်တော်မူသည်။ ¹

اَيَوَدُّ اَحَدُكُمْ اَنْ تَكُوْنَ لَهٗ جَنَّةٌ مِّنْ نَّخِيْلٍ وَّاَعْنَابٍ تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ لَهٗ

၂၆၆။ အသင်တို့အနက် တဦးတယောက်သောသူသည် (ဤအဖြစ်ကို) ကြိုက်နှစ်သက်ပါသလော၊ (အဖြစ်ကား) ထိုသူ၌ စွန်ပလွံ၊ သပြစ်ဥယျာဉ်တခု ရှိ၏၊ ထိုဥယျာဉ်အောက်မှ ရေယဉ်ချောင်းများ စီးတွေလျှက်ရှိ၏။

---

(၁) **ဖော်ပြချက်။**

အကြင်လယ်သမားသည် မိမိတို့လယ်ယာ၌ မြေဩဇာချ၍ လယ်လုပ်ကရိယာ စုံလင်စွာဖြင့် ကောင်းမွန်စွာထွန်ယက်ပြီး မျိုးစေ့ကောင်းများကို စံနစ်တကျ စိုက်ပျိုးပါက အောင်မြင်ဖွံ့ဖြိုးသော အသီးအနှံများကို အမှန်ပင်ရရှိပေမည်။ ထိုနည်းအတူပင် အလှူဒါနပြုသူတို့သည်လည်း လယ်ယာမြေကောင်းနှင့်တူသော အလှူခံပုဂ္ဂိုလ်တို့အား မျိုးစေ့ကောင်းနှင့်တူသော စေတနာ သဒ္ဓါမျိုးစေ့ကို စံနစ်တကျစိုက်ပျိုး လှူဒါန်းကြပါလျှင် အလှူဒါန၏ ကုသိုလ်အကျိုးကို ဆထက်ထောင်ရာ များပြားစွာ ရရှိကြပေမည်။ ထိုအကြောင်းနှင့် ပတ်သက်၍ 'လယ်ယာကောင်းကောင်း မျိုးကောင်းကောင်း တစလောင်းနှင့် တသောင်းထွက်၏' ဟု ဆိုရိုးပြုကြ၏။

အကြင်လယ်သမားသည် မြေဩဇာ မကောင်းသောလယ်၌ စံနစ်တကျ ထွန်ယက်ခြင်းမပြုဘဲ ညံ့ဖျင်းသောမျိုးစေ့ကို စိုက်ပျိုးပါလျှင် အောင်မြင်ဖွံ့ဖြိုးသော အသီးအနှံများကို ရရှိ နိုင်လိမ့်မည်မဟုတ်ချေ။ ထို့အတူပင် အကြင်အလှူရှင်တစ်ဦးတွင် လယ်မြေနှင့်တူသော အလှူခံပုဂ္ဂိုလ်ကလည်း ညံ့ဖျင်း၍ မျိုးစေ့နှင့်တူသော စေတနာသဒ္ဓါတရားကလည်း ညံ့ဖျင်းမည်ဖြစ်ပါက ထိုသူ၏အလှူဒါနသည် သွေ့ခြောက်မာကျော ပြောင်လက်သော ကျောက်တုံးကြီးပေါ်တွင် သည်းထန်သော မိုးကြီးရွာချလိုက်သောအခါ ကျောက်တုံးကြီးပေါ်တွင် မူလကတင်ရှိနေသော မြေမှုန့်တို့သည် မိုးရေနှင့်အတူ မျောပါသွားသဖြင့် မူလပကတိ ကျောက်တုံးကြီး အတိုင်းပင် ကျန်ရှိဘိသကဲ့သို့ အချည်းနှီးသာဖြစ်ပေလိမ့်မည်။

فِيهَا مِنْ كُلِّ الثَّمَرٰتِ وَأَصَابَهُ الْكِبَرُ وَلَهُ ذُرِّيَّةٌ ضُعَفَاءُ فَأَصَابَهَآ إِعْصَارٌ فِيهِ نَارٌ فَاحْتَرَقَتْ كَذٰلِكَ يُبَيِّنُ اللّٰهُ لَكُمُ الْاٰيٰتِ لَعَلَّكُمْ تَتَفَكَّرُوْنَ ﴿٢٦٦﴾

ထိုဥယျာဉ်၌ ထိုသူ့အတို့ အမျိုးစုံသော သစ်သီးဝလံများလည်းရှိ၏။ ထိုသူ၌ ဇရာဒုဗ္ဗလ သက်ရွယ်ကြီးပြင်း အိုမင်း ရင့်ရော်ခြင်းသည် ဆိုက်ရောက်လာ၏၊ ထိုသူ၌ မစွမ်းမသန် အားအင် ချည့်နဲ့သော သားသမီးများလည်းရှိ၏။ (ထိုကဲ့သို့သော အချိန်မျိုးတွင်) ထိုဥယျာဉ်၌ လောင်မီးပါရှိသော လေပြင်း မုန်တိုင်းသည် တိုက်ခတ်လေရာ ထိုဥယျာဉ်သည် လောင်ကျွမ်း (ပျက်စီး) သွားလေတော့သည်။ (ထိုသူသည် ဤအဖြစ်ကို အဘယ်သို့လျှင် ကြိုက်နှစ်သက် နိုင်အံ့နည်း)။ ယင်းကဲ့သို့ပင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား သက်သေလက္ခဏာတော်များကို ထင်ရှားစွာ ထုတ်ဖော်မိန့်ကြားတော်မူလေသည်။ သို့မှသာလျှင် အသင်တို့သည် စဉ်းစားဆင်ခြင် သိမြင်ကြမည်ဖြစ်ကုန်၏။ [1]

---

(၁) ဤမုကွပါဌ်တော်၏ သဘောကား ဤသို့တည်း။ လူတယောက်၌ မိမိတသက်တာပတ်လုံး ကြိုးပမ်းအားထုတ်၍ ပြုစုပျိုးထောင်ထားသော ဥယျာဉ်တခုရှိ၏။ ထိုဥယျာဉ်တွင် စွန်ပလွံ၊ သပြက်စသည့် သစ်သီးဝလံမျိုးစုံရှိ၏၊ ရေယဉ်ချောင်းများလည်း အယဉ်တွေတွေစီးဆင်းလျက်ရှိ၏။ ဥယျာဉ်ကားသာယာဝပြောလှ၏။ ဥယျာဉ်မှူးသည် မိမိ၏ဥယျာဉ်ကိုပြုစုပျိုးထောင်ရင်းနှင့်ပင် သက်ရွယ်ကြီးပြင်း၍ လာလေတော့၏။ သက်ရွယ်ကြီးပြင်းလာသဖြင့် ဥယျာဉ်မှူးသည် ဝမ်းရေးအတွက် အခြားအဘယ်တစုံတခုကိုမျှ လုပ်ကိုင်နိုင်သည်လည်း မရှိတော့ချေ။ 'ဘူးလေးရာဖရုံဆင့်' ဆိုသကဲ့သို့ ထိုဥယျာဉ်မှူး၌ ချည့်နဲ့သော သားသမီးငယ်များလည်း ရှိနေပြန်ရာ၊ သားသမီးများသည် ဘခင်ကြီးအတွက် ကျောထောက်နောက်ခံဖြစ်ရန်ဝေးစွ မိမိတို့သည်ပင် ဘခင်ကြီးအတွက် ဝန်ထုပ်ကြီးတစ်ခု ဖြစ်လျက်ရှိကုန်၏။

ဥယျာဉ်မှူးသည် မိမိကိုယ်တိုင် သက်ရွယ်ကြီးပြင်းသဖြင့် လှုပ်ရှားသွားလာခြင်း မပြုနိုင်သည့်အပြင် ငယ်ရွယ်သောသားသမီးများ. သံယောဇဉ် ငြိတွယ်လျက်ရှိခြင်းကြောင့် အမျိုးမျိုး ကြောင့်ကြနေလေ၏။ မိမိနှင့် သားသမီးများအတို့ မှီခိုအားထားရာကား ထိုဥယျာဉ်တခုပင်ရှိ၏။ ထိုသို့သော အချိန်မျိုးတွင် လောင်မီးပါသော လေပြင်းမုန်တိုင်းသည် ရုတ်တရက် တိုက်ခတ်လိုက်သဖြင့် ထိုဥယျာဉ်ကြီးသည် လောင်ကျွမ်းပျက်စီးသွားပေရာ ထိုဥယျာဉ်မှူးကြီးသည် ခံလေသမျှ သဲရေကျဖြစ်၍ အတိုင်းမသိ ဝမ်းနည်းကြေကွဲ ပူဆွေးလေသည်။

အထက်တွင် ဖော်ပြပါ ဥယျာဉ်မှူးကြီးထက်ပင် အဆပေါင်းများစွာပိုမို၍ ပူဆွေးရမည့် သူလည်း ရှိသေး၏။ ထိုသူကားအခြားမဟုတ်၊ မိမိတသက်တာလုံး လောကီရေးတို့တွင် လုံးဝ နစ်မွန်း၍ ကုသိုလ်တရား အလျင်း မပွားနိုင်သူပင်ဖြစ်၏။ သတိသံဝေဂ ရပြန်သော် ကုသိုလ်တရား ပွားများရန် အချိန်ကား ➤➤

يَاَيُّهَا الَّذِيْنَ اٰمَنُوْٓا اَنْفِقُوْا مِنْ طَيِّبٰتِ مَا كَسَبْتُمْ وَمِمَّآ اَخْرَجْنَا لَكُمْ مِّنَ الْاَرْضِ ۗ وَلَا تَيَمَّمُوا الْخَبِيْثَ مِنْهُ تُنْفِقُوْنَ وَلَسْتُمْ بِاٰخِذِيْهِ اِلَّآ اَنْ تُغْمِضُوْا فِيْهِ ۗ وَاعْلَمُوْٓا اَنَّ اللّٰهَ غَنِيٌّ حَمِيْدٌ ﴿٢٦٧﴾

၂၆၇။ အို- 'အီမါန်' ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် မိမိတို့ ရှာဖွေလုပ်ကိုင်၍ ရရှိသော သန့်စင်သော ဥစ္စာ ပစ္စည်းများ အနက်မှရင်း၊ ငါအရှင်မြတ်သည် အသင်တို့အဘို့ မြေမှထွက်စေသော (သစ်သီးသစ်ဥ၊ သတ္တုအစရှိသည်) တို့အနက်မှရင်း၊ ပေးကမ်းစွန့်ကြဲကြကုန်။ သို့ရာတွင် အသင်တို့သည် (သေးနုပ်သိမ်ဖျင်း) မသန့်ရှင်းသော ဥစ္စာပစ္စည်းများကိုမူ ပေးကမ်းစွန့်ကြဲလှူဒါန်းရန် စိတ်ကူးမျှ မထည့်ကြကုန်လင့်။ စင်စစ်တမူကား (သူတပါးတို့က အသင်တို့အား ထိုကဲ့သို့သေးနုပ်သိမ်ဖျင်း မသန့်ရှင်းသော ပစ္စည်းများကိုပေးကမ်းသည်ရှိသော်) အသင်တို့ကိုယ်တိုင်ပင် ယင်း ပစ္စည်းများကို ယူကြမည့်သူများမဟုတ်ချေ။ သို့ရာတွင်(အားနာသောအားဖြင့်) မျက်စိမှိတ်၍သာယူကြပေမည်။

---

➢➢ မရှိဖြစ်လေ၏။ မိမိ၏ကုသိုလ်စာရင်းကို သုံးသပ်ကြည့်ပြန်သော် မှီခိုအားထားနိုင်လောက်သော ကုသိုလ်ကောင်းမှုဟူ၍ တစုံတစ်ခုကိုမျှ မတွေ့ရှိရပေ။ ဤသူကား ဖော်ပြပါဥယျာဉ်မှုးကြီးထက်ပင် အသချေ အသချာ အဆပေါင်းများစွာ ပိုမို၍ ဝမ်းနည်းကြေကွဲရပေမည်၊ သို့ဖြစ်ပေရာ ယင်းကဲ့သို့ ကြေကွဲရမည့်အဖြစ်ကို မည်သူကြိုက်နှစ်သက်နိုင်ပါအံ့နည်း။ ကြည့်-(မာဂျိဒီ)။

တနည်းကား- ဤပုံဆောင်ချက်သည် လူသူအများ မြင်စေရန်အတွက် လှူဒါန်းသောသူများ၊ အလှူဒါနပြု၍ ဂုဏ်ဖော်သူများနှင့် အလှူခံများအား စိတ်ဒုက္ခ ရောက်စေသောသူများကို ရည်ညွှန်းသော ပုံဆောင်ချက်ပင်ဖြစ်သည်။

အကြင်သူတဦးသည် မိမိ သက်ရွယ်ကြီးပြင်သည့်အခါ၌ အကျိုးခံစားနိုင်ရန်အတွက် ငယ်ရွယ်နပျိုစဉ် အချိန်တွင် ဥယျာဉ်တခုကို ပြုစုပျိုးထောင်လေသည်။ ထိုသူကြီးပြင်း၍ မိမိဥယျာဉ်မှ အကျိုးခံစားရန် အကယ်အချိန် ကျရောက်သောအခါတွင် ထိုဥယျာဉ်သည် ပျက်စီးယိုယွင်း၍ သွားလေသည်။

ထို့အတူအကြင်သူတဦးသည် နောင်တမလွန်ဘဝတွင် အကျိုးခံစားနိုင်ရန်အလို့ငှါ အလှူဒါနပြု၏။ အလှူဒါနသည် ဥယျာဉ်နှင့်တူ၏။ အလှူဒါန၏ ကုသိုလ်အကျိုးသည် ဥယျာဉ်မှထွက်သော အသီးအနှံနှင့်တူ၏။ သို့ရာတွင် ထိုသူသည် အလှူဒါနပြု၍ ဂုဏ်ဖော်ခြင်း၊ အလှူခံများကို စိတ်ဒုက္ခရောက်စေခြင်း အမှုများကိုပြုပြီး မိမိ၏စိတ်စေတနာ သဒ္ဓါတရားများ ပျက်ပြားစေသဖြင့် ထိုသူ၏ အလှူဒါနတည်းဟူသော ဥယျာဉ်သည် ပျက်စီးသွားလေပြီဖြစ်ရာ ထိုသူသည် နောင်တမလွန်ဘဝတွင် အသီးအနှံတည်းဟူသော ကုသိုလ် အကျိုးကို အဘယ်မှာလျှင် ခံစားနိုင်အံ့နည်း၊

ထို့ပြင်တဝ မုချဧကန် အလ္လာဟ်အရှင်မြတ်သည် လိုလား တောင်းတခြင်း အပေါင်းတို့မှ ကင်းစင်တော် မူသောအရှင်၊ ခြီးမွမ်းဘွယ်ရာ ဂုဏ်အဖြာဖြာနှင့် ပြည့်စုံတော် မူသောအရှင် ဖြစ်တော် မူသည်ကိုလည်း အသင်တို့သည် ယုံကြည်မှတ်ယူကြကုန်လော့။

اَلشَّيۡطٰنُ يَعِدُكُمُ الۡفَقۡرَ وَيَاۡمُرُكُمۡ بِالۡفَحۡشَآءِ ۚ وَاللّٰهُ يَعِدُكُمۡ مَّغۡفِرَةً مِّنۡهُ وَفَضۡلًا ؕ وَاللّٰهُ وَاسِعٌ عَلِيۡمٌ ۚۖ ﴿٢٦٨﴾

**၂၆၈။** ရှိုင်တွာန်သည် အသင်တို့အား၊ (မိမိတို့ ဥစ္စာပစ္စည်းများကို လှူဒါန်းရန် ကြံရွယ်သော အချိန်အခါမျိုး၌၊ ယင်းကဲ့သို့ ပေးကမ်းစွန့်ကြဲခြင်းအားဖြင့် အသင်တို့သည်) ဆင်းရဲနွမ်းပါး၍ သွားကြမည်ဟု ခြိမ်းခြောက်ကာ၊ (ပေးကမ်းစွန့်ကြဲခြင်းမပြုဘဲ)၊ စေးနဲ၍နေကြရန် [၁] ညွှန်ကြားလေသည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်မူကား၊ (ယင်းကဲ့သို့ ပေးကမ်းစွန့်ကြဲ လှူဒါန်းခြင်းအားဖြင့်၊) အသင်တို့အား မိမိအထံတော်မှ (အသင်တို့၏ပြစ်မှုဒုစရိုက်များကို) လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူမည်ဟူ၍၎င်း၊ ပေးကမ်း လှူဒါန်းခြင်း၏အကျိုးကို ပေါများစွာ ပေးသနားတော်မူမည်ဟူ၍၎င်း၊ ကတိထားရှိတော်မူလေသည်။ အကြောင်းတမူကား အလ္လာဟ်အရှင်မြတ်သည် ကျယ်ဝန်းစွာ ပေးသနားတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသော အရှင်ဖြစ်တော်မူပေသတည်း။

---

(၁) **ထုတ်ပြန်ပို့ချတော်မူသည့်အကြောင်း။**

'ဇရာ့' ၏ထံမှတဆင့် ဤသို့ကြားသိရ၏။ ဤမုက္ခပါဌ်တော်သည် ကျွန်ုပ်တို့ အန်ဆွာရ်များနှင့် ပတ်သက်၍ ကျရောက်လာခဲ့သော မုက္ခပါဌ်တော်ဖြစ်သည်။ ကျွန်ုပ်တို့သည် စွန်ပလွံခြံရှင်များဖြစ်ကြသည်။ ကျွန်ုပ်တို့အနက် အချို့တို့သည် စွန်ပလွံသီးများကို စွန်ပလွံသီး အထွက်နည်းလျှင် နည်းသည့်အလျောက်၊ များလျှင် များသည့်အလျောက် (ပေးလှူကြ၏)။ အချို့ သူများသည် အလှူဒါနတွင် စိတ်မဝင်စား ကြပေ။ ထိုသူများသည် စွန်ပလွံခိုင်များကို ယူလာကြ၏။ ထို စွန်ပလွံ အခိုင်များတွင် အလွန် ညံ့ဖျင်းသော➤➤

يُّؤْتِى الْحِكْمَةَ مَنْ يَّشَآءُ ۚ وَمَنْ يُّؤْتَ الْحِكْمَةَ فَقَدْ اُوْتِىَ خَيْرًا كَثِيْرًا ۗ وَمَا يَذَّكَّرُ اِلَّآ اُولُوا الْاَلْبَابِ ﴿٢٦٩﴾

၂၆၉။ ထို အရှင်မြတ်သည် မိမိနှစ်လိုတော်မူသော သူများကိုသာ *ဉာဏ်ပညာ အမြော်အမြင်ကို* [၁] ပေးသနားတော်မူလေသည်။ အမှန်စင်စစ်သော်ကား ဉာဏ်ပညာ အမြော်အမြင်ကို ပေးသနားတော်မူခြင်း ခံရသောသူသည် အလွန်တရာမှ မျှ များပြားလှသော ဂုဏ်ကျေးဇူးတော်ကို ပေးသနားတော်မူခြင်းခံရသော သူတည်း။ သို့ရာတွင် စူးစမ်းဆင်ခြင်သော နိသမ္မ ဉာဏ်ရှင်များမှအပ လူတိုင်း သတိသံဝေဂတရား ရရှိသည်မဟုတ်ပေ။

---

➤➤ အသီးများပါရှိ၏။ အခိုင်များမှာလည်း ကျိုးလျက်ရှိ၏။ ထိုသို့သော စွန့်ပလွှံခိုင်များကို ချိတ်ဆွဲထားကြ၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် ဤမုကဒ္ဒပါဠ်တော်ကို ထုတ်ပြန်ပို့ချတော်မူလေသည်။ (ထာနဝီ)၊ အ-၁။ စ-၁၅၁။ အတ်တာဂျူလ် ဂျာမိအု အ-၄-စ-၇၀။

'ဖဟ်ရှာ' ဟူသောစကားသည်၊ စက်ဆုပ်ရွံရှာ ယုတ်မာညစ်ညမ်းသော အပြုအမူများ၊ အပြောအဆိုများ အားလုံးတို့အတွက် အသုံးပြုသော စကားများပင်ဖြစ်သည်။

သို့ရာတွင် ဤမုကဒ္ဒပါဠ်တော်၌ ယင်းစကား၏ အနက်သဘောမှာ စေးနဲခြင်း ဖြစ်သည်ဟူ၍ 'မုဖတ်စ်စိရိန်' အဋ္ဌကထာရှင်များသည် တညီတညွတ်တည်း ဆိုကြကုန်သည်။ ကြည့်-တာဂျူလ်အုရူစ်၊ ဂျဆ္စ္စာဆ္ဆ်၊ မာဂျိဒီ၊ ထာနဝီ၊ အလ်မနာရ်။

(၁) 'ဟိက်မတ်' ဟူသော စကား၏ အနက်အဓိပ္ပါယ်ကား များပြားလှ၏။ ထိုထိုသော အနက်အဓိပ္ပါယ်များအနက်- ဤနေရာတွင် သာသနာရေးနှင့် စပ်လျဉ်း၍ စဉ်းစား ဆင်ခြင် မြော်မြင်တတ်သော နိသမ္မဉာဏ်ဟူသော အနက်သည် အသင့်မြတ်ဆုံးသော အနက်ပင်ဖြစ်သည်။ ကြည့်-(မာဂျိဒီ)။

သာသနာရေးတွင် အမြော်အမြင်ရှိသော သူတဦးသည် စေးနဲတွန့်တိုမှုကို စက်ဆုတ်ရွံရှာပေမည်။ သုံးစွဲလှူဒါန်းရာတွင် မျှတမှုကို အမြဲတစေရှေ့ရှုပေမည်။ ထိုသူသည် မိမိ၏ ဥစ္စာပစ္စည်းများကို မိမိတဦးတည်း အကျိုးငှါ ဤပစ္စက္ခမျက်မှောက်ဘဝတွင် ဖြုန်းတီးပစ်မည်မဟုတ်ပေ။

ထိုသူသည် နောင်တမလွန်ဘဝတွင် ကုသိုလ်အကျိုး တိုးသည်ထက်တိုး၍ ခံစားနိုင်ရန်အလို့ငှါ မိမိဥစ္စာပစ္စည်းများကို ကောင်းစွာ လှူဒါန်းပေးကမ်းပေမည်။ ထိုသူသည် အလ္လာဟ်အရှင်မြတ်၏ မုကဒ္ဒပါဠ် တော်များကိုသာ ဦးထိပ်ရွက်ပန်ဆင်ပေမည်။ ရှိုင်တွာန်၏ စကားများကိုကား အလျင်း နားထောင်မည် မဟုတ်ပေ။

ထိုကြောင့်ပင်လျှင် ယင်းကဲ့သို့ 'စဉ်းစားဆင်ခြင် မြော်မြင်နိုင်သော နိသမ္မဉာဏ် ချီးမြှင့်ခြင်းခံရသော သူသည် များပြားလှစွာသော ဂုဏ်ကျေးဇူးတော်များကို ချီးမြှင့်ခြင်းခံရသော သူပင်တည်း' ဟူ၍ ဤ မုကဒ္ဒပါဠ်တော်တွင် မိန့်ဆိုထားတော် မူလေသည်။ 'ဟိက်မတ်' ဟူသော ပုဒ်နှင့်စပ်လျဉ်း၍ အကျယ်ကို သိလိုပါက ရာဃိဗ်စာမျက်နှာ (၁၂၆) တွင် ရှုပါကုန်။

وَمَآ أَنفَقْتُم مِّن نَّفَقَةٍ
أَوْ نَذَرْتُم مِّن نَّذْرٍ
فَإِنَّ ٱللَّهَ يَعْلَمُهُۥ ۗ وَمَا
لِلظَّٰلِمِينَ مِنْ
أَنصَارٍ ٢٧٠

၂၇၀။ စင်စစ်တမူကား အသင်တို့သည် မည်သည့် လှူဒါန်းခြင်းကိုမဆို ပေးကမ်းလှူဒါန်းကြသည်ဖြစ်စေ၊ သို့မဟုတ် *မည်သည့်အဓိဋ္ဌာန်ပြုခြင်း* [၁] ကိုမဆို ဓိဋ္ဌာန်ကြသည်ဖြစ်စေ ဧကန်ဆတ်ဆတ် အလ္လာဟ် အရှင်မြတ်သည် (အသင်တို့ ပြုလုပ်သမျှသော) ထိုထိုကိစ္စ အဝဝတို့ကို အကြွင်းမဲ့ သိရှိတော်မူပေသည်။ (သို့အကြွင်းမဲ့ သိတော်မူသည့်အတိုင်း ကောင်းသူတို့အားကောင်းကျိုး၊ မကောင်းသူတို့အား မကောင်းကျိုးများကို ပေးတော်မူမည်)၊ သို့ရာတွင် (ရှင်ပြန်ထမည့်နေ့တွင်) မတရားပြုလုပ်သူတို့အား ကူညီမစ ကယ်ဆယ်မည့်သူဟူ၍ တဦးတယောက်မျှ ရှိလိမ့်မည် မဟုတ်ချေ။

إِن تُبْدُوا۟ ٱلصَّدَقَٰتِ
فَنِعِمَّا هِىَ ۖ وَإِن تُخْفُوهَا
وَتُؤْتُوهَا ٱلْفُقَرَآءَ
فَهُوَ خَيْرٌ لَّكُمْ ۚ وَيُكَفِّرُ
عَنكُم مِّن سَيِّـَٔاتِكُمْ ۗ

၂၇၁။ အကယ်၍ အသင်တို့သည် (မိမိတို့ပေးကမ်း စွန့်ကြဲကြကုန်သော) အလှူ ဝတ္ထုများကို ထင်ရှားစွာ (လှူဒါန်း ပေးကမ်းကြပါမူ) ယင်းသို့ထင်ရှားစေခြင်းသည်လည်း ကောင်းမြတ်၏။ [၂] သို့ရာတွင် အကယ်၍ အသင်တို့သည် ယင်း(ပေးကမ်းလှူဒါန်းကြကုန်သော) အလှူဝတ္ထုများကို လျှို့ဝှက်စွာ သူဆင်းရဲတို့အား ပေးကမ်းစွန့်ကြဲကြပါမူ၊ ယင်းသို့ လျှို့ဝှက်ခြင်းသည်ကား အသင်တို့အဘို့ရာ သာ၍ပင် ကောင်းမြတ်ပေသည်။

---

(၁) 'နဇ်ရ်' ဟူသည် အကြောင်းကိစ္စတခု ဖြစ်မြောက်ရန်အလို့ငှါ တာဝန်မရှိသော ကိစ္စတရပ်ကို မိမိအပေါ်၌ တာဝန်တရပ်အနေဖြင့် သတ်မှတ်ပြဋ္ဌာန်းခြင်းကိုဆိုလိုသည်။ ကြည့်-(ရာဃိဗ်)။

'နဇ်ရ်' အကြောင်းနှင့်စပ်လျဉ်း၍ အကျယ်ကိုသိလိုပါက 'ဟိဒါယဟ်' ကျမ်းတွင်ရှုပါကုန်။

(၂) ဤမုကဒ္ဒပါဠ်တော်တွင် 'ဖရဿ်' အဖြစ်လှူဒါန်းရမည်ဟူ၍ သတ်မှတ်ပြဋ္ဌာန်း ထားတော်မူသော အလှူဒါနများသည်၎င်း၊ 'နဖိလ်' ခေါ် စိတ်စေတနာအလျောက် လှူဒါန်းသော အလှူဒါနများသည်၎င်း အကျုံးဝင်လျက်ရှိပေသည်။ အလှူဒါနအားလုံးတို့ကိုပင် လျှို့ဝှက်စွာ လှူဒါန်းခြင်းသည် ပိုမို၍မြတ်ပေသည်။ လျှို့ဝှက်စွာ လှူဒါန်းခြင်းအားဖြင့် အလှူရှင်များသည် ဂုဏ်ပကာသနထုတ်ဖော်ခြင်းမှ ကင်းရှင်းနိုင်ကြ ➤➤

وَاللّٰهُ بِمَا تَعْمَلُوْنَ خَبِيْرٌ ﴿٢٧١﴾

ထို့ပြင် (အလ္လာဟ် အရှင်မြတ်သည်) အသင်တို့၏ ဒုစရိုက်မှုအချို့တို့ကို ဖယ်ရှားတော်မူအံ့။ အကြောင်းမူကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ပြုလုပ်ကြကုန်သော ကိစ္စရပ်တို့ကို အကြွင်းမဲ့ ကြားသိတော်မူသောအရှင်တည်း။

لَيْسَ عَلَيْكَ هُدٰىهُمْ وَلٰكِنَّ اللّٰهَ يَهْدِيْ مَنْ يَّشَآءُ ۗ وَمَا تُنْفِقُوْا مِنْ

၂၇၂။ (အို-နဗီတမန်တော်) ထို (ကာဖိရ်) တို့အား *တရားလမ်းမှန်သို့ အရောက် ပို့ဆောင်ခြင်းသည် အသင်၏ တာဝန် မဟုတ်ပေ။* [၁] သို့ရာတွင် အလ္လာဟ် အရှင်မြတ်သည် မိမိနှစ်လိုတော်မူသော သူတို့ကို တရားလမ်းမှန်သို့ အရောက် ပို့ဆောင် တော်မူသည်။

>> ပေသည်။ အလှူခံပုဂ္ဂိုလ်များ အဘို့လည်း ဣန္ဒြေသိက္ခာမဲ့ရန် အကြောင်းမရှိပေ။ သို့ရာတွင် လျှို့ဝှက်စွာ လှူဒါန်းခြင်းအားဖြင့် အလှူရှင်အပေါ်၌ မဟုတ်မတရား စွပ်စွဲပြောဆိုခြင်းခံရမည်ကို စိုးရိမ်ရသောအခါမျိုးတွင်၎င်း၊ ထို့အတူမိမိ၏ အလှူဒါနကုသလကို သူတပါးတို့ အတုယူစိမ့်သောငှါ လှူဒါန်းသည့်အခါမျိုး၌၎င်း အလှူဒါန များကို အထင်အရှားပြုလုပ်နိုင်ပေသည်။

လျှို့ဝှက်စွာ လှူဒါန်းပေးကမ်းရမည့် အကြောင်းနှင့်စပ်လျဉ်း၍ နဗီတမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် အောက်ပါအတိုင်း မိန့်ကြားတော်မူခဲ့လေသည်။

အလ္လာဟ်အရှင်မြတ်၏ အရိပ်အာဝါသမှအပ အခြားအရိပ်အာဝါသအလျင်းရှိမည် မဟုတ်သော 'ကိယာမတ်' နေ့တွင် ထိုအရှင်မြတ်သည် ၇-ဦးသောသူတို့အား မိမိ၏ အရိပ်အာဝါသအောက်တွင် ခိုလှုံခွင့်ပေးတော်မူမည်။ ထို-၇-ဦးသောသူတို့အနက် တဦးမှာ အကြင်သူပင်ဖြစ်၏၊ ထိုသူသည် ညာလက်က လှူသည်ကိုပင် ဘယ်လက်ကမသိအောင် လျှို့ဝှက်စွာ လှူဒါန်းပေးကမ်း၏။ (ဗုခါရီ)

**(၁) ထုတ်ပြန်ပို့ချတော်မူခြင်း**

'အန်ဆွာရီ' မည်တွင်သော မဒီနာမြို့ခံ 'ဆွဟာဗဟ်' သာဝကကြီးများအနက် အချို့တို့သည် မွတ်စ်လင်မ် မဟုတ်သောမိမိတို့၏ ဆွေဆင်းရဲ မျိုးဆင်းရဲတို့အား ပေးကမ်းလှူဒါန်းခြင်း မပြုကြချေ၊ ယင်းသို့ မလှူဒါန်းခြင်း အကြောင်းမှာလည်း ထိုသာဝကများက ထိုဆွေဆင်းရဲမျိုးဆင်းရဲတို့သည် (အလှူဒါနကို တပ်မက်၍) အစ္စလာမ် သာသနာအတွင်းသို့ ဝင်ရောက် လာကြလိမ့်မည်ဟု မျှော်ကိုး နေကြခြင်းကြောင့် ဖြစ်လေသည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်ထံတော်မှ (လူမျိုးဘာသာမရွေး ပေးကမ်းလှူဒါန်းရမည့် အကြောင်းနှင့် စပ်လျဉ်း၍) ဤမုကွပါဠ်တော်ကျရောက်လာလေသည်။ ကြည့်-(အလ်မနာရ်)။

တရားလမ်းမှန်ပေါ်သို့ အရောက်ပို့ဆောင်ခြင်းသည် နဗီတမန်တော်များ၏ တာဝန်မဟုတ်ပေ။ တရားဓမ္မ ဟောပြခြင်းသည်သာလျှင် တမန်တော်များ၏ တာဝန်ဖြစ်ပေသည်။ ကြည့်-ကုရ်အာန် (၃း၁၉။ ၅း၉၂-၉၉။ ၁၃း၄၀။ ၁၆း၃၅-၈၂။ ၂၄း၅၄။ ၂၉း၁၈။ ၃၆း၁၇။ ၄၂း၄၈။ ၆၄း၁၂)။

خَيْرٍ فَلِأَنفُسِكُمْ ۚ وَمَا
تُنفِقُونَ إِلَّا ابْتِغَاءَ
وَجْهِ اللَّهِ ۚ وَمَا تُنفِقُوا
مِنْ خَيْرٍ يُوَفَّ إِلَيْكُمْ
وَأَنتُمْ لَا تُظْلَمُونَ ﴿٢٧٢﴾

ထို့ပြင် (အို-မွတ်စ်လင်မ် အပေါင်းတို့) အသင်တို့သည် (မိမိတို့၏) ဥစ္စာပစ္စည်းများအနက် မည်သည့် ဥစ္စာပစ္စည်းကိုမဆို အလှူဒါနပြုကြကုန်အံ့၊ (ထို အလှူဒါနများသည်) အသင်တို့၏ အကျိုးငှာသာ ဖြစ်ကုန်၏။ စင်စစ်သော်ကား အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ နှစ်သက်ကျေနပ်မှုကို ဆည်းပူး ရန်အလို့ငှါသာ လှူဒါန်းပေးကမ်းကြကုန်၏။ (သို့ဖြစ် ရာအသင်တို့သည် 'မွတ်စ်လင်မ်'၊ 'ကာဖိရ်' မခြား သူဆင်းရဲတို့အား ပေးကမ်းလှူဒါန်း ကြရပေမည်)။ တဖန် အသင်တို့သည် (မိမိတို့၏) ဥစ္စာ ပစ္စည်းများ အနက် မည်သည့် ဥစ္စာပစ္စည်းကိုမဆို လှူဒါန်းကြ ကုန်အံ့၊ (ထို အလှူဒါနများ၏ ကုသိုလ် အကျိုးများ ကို) အသင်တို့သည် အပြည့်အစုံ ခံစားကြရကုန်အံ့၊ ထို့ပြင် အသင်တို့သည် (မိမိတို့၏ အလှူဒါနများ နှင့် စပ်လျဉ်း၍) မတရားပြုခြင်းကို ခံကြရမည် မဟုတ်ပေ။

لِلْفُقَرَاءِ الَّذِينَ
أُحْصِرُوا فِي سَبِيلِ
اللَّهِ لَا يَسْتَطِيعُونَ ضَرْبًا
فِي الْأَرْضِ يَحْسَبُهُمُ
الْجَاهِلُ أَغْنِيَاءَ مِنَ
التَّعَفُّفِ تَعْرِفُهُم
بِسِيمَاهُمْ لَا يَسْأَلُونَ

၂၇၃။ (အလှူဒါနများသည်) အလ္လာဟ်အရှင်မြတ် ၏လမ်းတော်၌ ဝန်းဝိုင်းဆီးတားခြင်း ခံနေကြရကုန် သော သူဆင်းရဲတို့ အဘို့တည်း။ ယင်း သူတို့သည် (သာသနာရေးရာ များကို ဆောင်ရွက်လျက်ရှိကြရ ကား မိမိတို့၏ဝမ်းရေးအတွက်) ကမ္ဘာမြေပြင်ဝယ် သွားလာခြင်းကို မစွမ်းနိုင်ကြပေ။ (တဖန် ယင်းသူ တို့၏ ကြွေ့စောင့်စည်းခြင်းကြောင့် မသိနားမလည် သောသူသည် ယင်းတို့အား ကုံလုံ ကြွယ်ဝသူများ ဟူ၍ ထင်မှတ်လေသည်။ (သို့ရာတွင်) အသင်သည် ယင်းသူတို့၏ ရုပ်ရည် လက္ခဏာ အမူအရာ(ကို ကြည့်ရှုရုံမျှ)ဖြင့် (ထိုသူတို့၏ ဆင်းရဲနွမ်းပါးကြောင်း ကို) သိမြင်နိုင်ပေသည်။

النَّاسَ إِلْحَافًا ۗ وَمَا
تُنفِقُوا مِنْ خَيْرٍ
فَإِنَّ اللَّهَ بِهِ عَلِيمٌ ﴿٢٧٣﴾

ယင်း သူတို့သည် လူတို့ထံ တွယ်ကပ်၍ တောင်းရမ်းခြင်း ကိုလည်း မပြုကြချေ။ စင်စစ် သော်ကား အသင်တို့သည် (မိမိတို့) ဥစ္စာပစ္စည်း အနက်မှ ပေးကမ်းစွန့်ကြဲ သုံးစွဲကြသော အလှူဒါန များကို အလ္လာဟ်အရှင်မြတ်သည် အကြွင်းမဲ့ သိရှိတော် မူသောအရှင် ဖြစ်တော်မူချေသတည်း။

الَّذِينَ يُنفِقُونَ
أَمْوَالَهُم بِاللَّيْلِ
وَالنَّهَارِ سِرًّا وَعَلَانِيَةً
فَلَهُمْ أَجْرُهُمْ عِندَ
رَبِّهِمْ وَلَا خَوْفٌ عَلَيْهِمْ
وَلَا هُمْ يَحْزَنُونَ ﴿٢٧٤﴾

၂၇၄။ အကြင်သူတို့သည် မိမိတို့၏ ဥစ္စာပစ္စည်း များကို နေ့ညဉ့်မရွေး (အခါခပ်သိမ်း) လျှို့ဝှက်စွာဖြင့် (တမျိုး) ထင်ရှားစွာဖြင့်(တဖုံ) လှူဒါန်းသုံးစွဲကြကုန် ၏။ သို့ဖြစ်လျှင် ယင်းသူတို့၏ ကုသိုလ်အကျိုးသည် ယင်းသူတို့အား မွေးမြူတော် မူသော အရှင်မြတ်၏ အထံတော်၌ (အသင့်) ရှိပေသည်။ ထို့ပြင်တ၀ ယင်းသူတို့အပေါ်ဝယ် မည်သည့်စိုးရိမ်ကြောင့်ကြခြင်း လည်းမရှိ၊ ယင်းသူတို့သည် ဝမ်းနည်း ပူဆွေးကြမည် လည်းမဟုတ်ပေ။

الَّذِينَ يَأْكُلُونَ الرِّبَا
لَا يَقُومُونَ إِلَّا كَمَا يَقُومُ
الَّذِي يَتَخَبَّطُهُ الشَّيْطَانُ

၂၇၅။ *အတိုးအညွှန့်စားသူတို့သည်*[၁] (ရှင်ပြန် ထမည့်နေ့တွင် သင်းချိုင်းတွင်းမှ ထကြသောအခါ) ကောင်းမွန်စွာ မရပ်နိုင်ကြဘဲ ရှိုင်တွာန်ဖမ်းစား၍ အသိဉာဏ်မှောက်မှား ရူးသွပ်တွေဝေ နေသူများကဲ့သို့ သာလျှင် ရပ်ကြကုန်အံ့။

---

(၁) အတိုးအညွှန့်စားသုံးခြင်းသည် သူဆင်းရဲတို့၏ သွေးစုတ်ခြင်း၊ ဆင်းရဲတွင်း နက်စေခြင်းဖြစ်သည်သာမက ပေါင်းသင်းဆက်ဆံရေးတို့တွင်လည်း အလွန်ကြီးမားသော အန္တရာယ်ကြီး တစ်ခုဖြစ်ပေသည်။

အတိုးအညွှန့် စားသုံးသောသူများသည် ဥစ္စာကို အထူးမက်မောကြကုန်၏။ နေ့ရောညဉ့်ပါ အခါမရွေး ဥစ္စာရရှိရေးသာ ရှေ့ရှုကြကုန်၏။ ဥစ္စာနှင့် ပတ်သက်လာလျှင် တရားသည် မတရားသည်ကိုပင် မဆင်ခြင် နိုင်ဘဲ ရသာလျှင် ဘ,နဖူးသိုက်တူးမည့်သူများ ဖြစ်ကြကုန်၏။ အတိုးအညွှန့်စားသုံးသော သူများအဘို့ ဥစ္စာသည်အမိ၊ ဥစ္စာသည်အဘ၊ ဥစ္စာသည်သာလျှင် အဓိကဖြစ်၏။ ထိုသူတို့၏ စိတ်နှလုံးများသည် မာကျော ခက်ထန်၏။ သိမ်ဖျင်းယုတ်ညံ့၏။ ထိုသူတို့တွင် သနားကြင်နာမှုဟူ၍ကား စိုးစဉ်းမျှမရှိပေ။ ထိုသူတို့သည် ဆင်းရဲသားမြီစားတို့အား အရှက်တကွဲဖြစ်အောင် အချိန်မရွေး ပြုလုပ်ကြံစည်လျက် ရှိကြကုန်၏။ ➢➢

مِنَ الْمَسِّ ۚ ذَٰلِكَ بِأَنَّهُمْ قَالُوٓا۟ إِنَّمَا الْبَيْعُ مِثْلُ الرِّبَوٰا۟ ۗ وَأَحَلَّ اللَّهُ الْبَيْعَ وَحَرَّمَ الرِّبَوٰا۟ ۚ فَمَن جَآءَهُۥ مَوْعِظَةٌ مِّن رَّبِّهِۦ فَانتَهَىٰ فَلَهُۥ مَا سَلَفَ وَأَمْرُهُۥٓ

ဤကဲ့သို့ ဖြစ်ရခြင်းကား ယင်းသူတို့က "ကုန်စည် ကူးသန်းရောင်းဝယ်ခြင်း သည်လည်း အတိုးအညွန့် စားခြင်းနှင့် ထပ်တူထပ်မျှသာ ဖြစ်သည်"ဟု ပြောဆိုကြသောကြောင့် ဖြစ်လေသည်။ အမှန် စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ကုန်စည် ကူးသန်းရောင်းဝယ်ခြင်းကို ခွင့်ပြုထားတော်မူ၍ အတိုးအညွန့်စားခြင်းကိုမူကား တားမြစ်တော်မူခဲ့လေသည်။

---

➤➤ တနည်းအားဖြင့်ဆိုသော် ထိုသူတို့သည် ဥစ္စာရူးများပင် ဖြစ်ကြကုန်၏။

လောကတွင် လူသားတို့ လိုက်နာကျင့်မူခဲ့သော အပြုအမူများသည် နောင်တမလွန်ဘဝတွင် ထိုလူသားတို့၌ ရုပ်ဆင်းသဏ္ဍာန်ပေါ်၍ နေပေမည်။ သူတော်ကောင်းများသည် သင်းချိုင်းများမှ ကောင်းသော ရုပ်ဆင်းသဏ္ဍာန်နှင့် ထကြရမည်။ သူယုတ်မာများသည် ဆိုးယုတ်သော ရုပ်ဆင်းသဏ္ဍာန်နှင့် ထကြရမည်။ လောကတွင် ဥစ္စာရမ္မက် ငန်းငန်းတက်၍ အတိုးအညွန့်စားသုံးသောသူများသည် မိမိတို့တွင် စွဲကပ်လျက်ရှိသော ဥစ္စာရမ္မက်များကြောင့် နောင်တမလွန်ဘဝတွင် သင်းချိုင်းမှ ထကြသောအခါ ရှိုင်တွာန်ဖမ်းစားသော သူရူးများသဘွယ် ထကြရပေမည်။

အတိုးအညွန့် စားသုံးခြင်းသည် ဤမျှဆိုးရွားသည့် အတွက်ကြောင့်ပင် အတိုးအညွန့်ကို အလျင်း မစားသုံးအပ်ကြောင်း၊ အတိုးအညွန့် စားသုံးသောသူများသည် အမြဲထာဝစဉ် "ဂျဟန္နမ်" ငရဲလားကြရမည့် အကြောင်း အလ္လာဟ်အရှင်မြတ်သည် လေးနက်စွာ မိန့်ဆိုထားတော်မူသည်။

နဗီတမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် အတိုးအညွန့်စားသုံးသောသူများနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း အထိတ်တလန့် ကြောက်ရွံ့ဘွယ်ရာ မိန့်ကြားတော်မူခဲ့လေသည်။

"အတိုးအညွန့် စားသုံးသူ၊ အတိုးအညွန့်ယူသူ၊ အတိုးအညွန့်နှင့် စပ်လျဉ်း၍ ရေးမှတ်သော စာရေးစာချီနှင့် အတိုးအညွန့်နှင့် စပ်လျဉ်း၍ သက်သေခံသူ ၂ဦးတို့သည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ ကင်းဝေးကြပါစေသတည်း" ဟု နဗီတမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လာမ်) သည် ကျိန်ဆဲတော်မူခဲ့သည်။ (မစ်ရှ်ကာတ်)။

(အတိုးအညွန့် မစားသုံးအပ်ကြောင်း) "သိပါလျက်နှင့် အတိုးအညွန့် အဖြစ် 'ဒိရ်ဟမ်" တပြား စားသုံးခြင်းသည် ကာမေသုမိစ္ဆာစာရကံကို ၃၆-ကြိမ် ကျူးလွန်ခြင်းထက်ပင် ပိုမို၍ ဆိုးရွား၏" ဟု နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာ ဟု အလိုင်ဟိ ဝစလ္လာမ်) မိန့်ကြားတော်မူခဲ့သည်။ (မစ်ရှ်ကာတ်)။

"အတိုးအညွန့်စားသုံးခြင်း၏ အပြစ်သည် အရွယ်အစားအားဖြင့် ၇၀-ရှိ၏။ ထိုအပြစ်များအနက် အငယ်ဆုံးသောအပြစ်သည် မိမိ၏မိခင်နှင့် ထိမ်းမြားခြင်းပင် ဖြစ်သည်" ဟု နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လာမ်) မိန့်ကြားတော်မူခဲ့လေသည်။ (မစ်ရှ်ကာတ်)။ ➤➤

إِلَى اللَّهِ ۖ وَمَنْ عَادَ فَأُولَٰئِكَ أَصْحَابُ النَّارِ ۖ هُمْ فِيهَا خَالِدُونَ ﴿٢٧٥﴾

သို့ဖြစ်လေရာ အကြင်သူသည်၊ မိမိအား မွေးမြူတော် မူသော အရှင်မြတ်၏ အထံတော်မှ (အတိုးအညွန့်ကို မြစ်တားခြင်းနှင့် စပ်လျဉ်း၍) ဆုံးမဩဝါဒ ရောက်ရှိလာပေရာ (အတိုးအညွန့်စားခြင်းကို) စွန့်လွှတ် ရပ်ဆိုင်းလိုက်ပါမူ ယခင်က (လက်ခံပြီး စားသုံးခဲ့သော) ယူခဲ့သော (အတိုးအညွန့် ကြေးငွေများသည်) ထိုသူ၏ပစ္စည်းများပင်တည်း။

ထို့ပြင်တဝ ထိုသူ၏ (အတွင်းရေး) ကိစ္စသည် အလ္လာဟ်အရှင်မြတ် အထံတော်သို့ အပ်နှံပြီး ဖြစ်လေသည်။

သို့ရာတွင် အကြင်သူတို့သည် (အလ္လာဟ်အရှင်မြတ် အထံတော်မှ အတိုးအညွန့်နှင့် စပ်လျဉ်းသော ပညတ်တော်များ ရောက်ရှိလာပြီးသည့်နောက်) တဖန် ထပ်မံ၍ (အတိုးအညွန့် စားခြင်းကို) ပြုကြပါမူ ထိုသူတို့သည် ငရဲသားများပင် ဖြစ်ကြကုန်၏။ ထိုသူတို့သည် ငရဲမီးတွင် ထာဝစဉ် (ဒုက္ခကြီးစွာ) ခံစားနေထိုင်ကြရမည့်သူများ ဖြစ်ကြကုန်သတည်း။

---

>> **ဗျာဒိတ်စကား**

"လူသားတို့အပေါ်၌ ခေတ်တခေတ် မုချရောက်လာလိမ့်မည်၊ ထိုခေတ်တွင် အတိုးအညွန့် မစားသုံးသော သူဟူ၍ တဦးတယောက်မျှ ကျန်ရှိမည်မဟုတ်ပေ၊ အကယ်၍ လူတဦးတယောက်သည် အတိုးအညွန့်ကို မစားသုံးသည့်တိုင်အောင် ထိုသူသည် အတိုးအညွန့်၏ အနံ့အသက်နှင့်ကား ကင်းစင်နိုင်မည် မဟုတ်ပေ" ဟု နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လာမ်) သည် ကြိုတင်၍ ပြောကြားတော်မူခဲ့လေသည်။

ကြည့်-(မစ်ရ်ကာတ်)။

နဗီတမန်တော် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လာမ်) ကြိုတင်ဟောကြား တော်မူခဲ့သည့်အတိုင်း ယခုခေတ်တွင် အတိုးအညွန့်နှင့် ကင်းစင်နိုင်သူကား အတော်ပင် ရှားလှ၏။ သူငါအများ အတိုးအညွန့်နှင့် ကင်းနိုင်ကြပါစေတည်း။

يَمۡحَقُ ٱللَّهُ ٱلرِّبَوٰاْ وَيُرۡبِي ٱلصَّدَقَٰتِۗ وَٱللَّهُ لَا يُحِبُّ كُلَّ كَفَّارٍ أَثِيمٍ ٢٧٦

၂၇၆။ အလ္လာဟ် အရှင်မြတ်သည် အတိုးအညွန့်ကို ဆုတ်ယုတ်ပျက်စီး စေတော်မူ၍ (ပေးကမ်းစွန့်ကြဲ သုံးစွဲကြကုန်သော) အလှူဝတ္တုများကိုမူ (ဆထက် ထမ်းပိုး) *တိုးပွားစေတော်မူ၏။* ^၁ အမှန်သော်ကား အလ္လာဟ် အရှင်မြတ်သည် ယုံကြည်ခြင်းသဒ္ဓါတရား ကင်းမဲ့သော *ပြစ်မှုဒုစရိုက်များ ကျူးလွန်သော* ^၂ မည်သူတဦးတယောက်ကိုမျှ နှစ်သက်တော်မူသည် မဟုတ်ချေ။

إِنَّ ٱلَّذِينَ ءَامَنُواْ وَعَمِلُواْ ٱلصَّٰلِحَٰتِ وَأَقَامُواْ ٱلصَّلَوٰةَ وَءَاتَوُاْ ٱلزَّكَوٰةَ لَهُمۡ أَجۡرُهُمۡ عِندَ رَبِّهِمۡ وَلَا خَوۡفٌ

၂၇၇။ မုချဧကန် အကြင်သူတို့သည် ယုံကြည်ခြင်း သဒ္ဓါတရားထားရှိကြ၍ ကောင်းမြတ်သော အကျင့်သီလများကိုလည်း ဆောက်တည်ကြကုန်၏။ ထို့ပြင်တဝ ယင်းသူတို့သည် "ဆွလာတ်" ဝတ်ပြု ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် "ဇကာတ်" တရားဝင်ဒါနကြေးကိုလည်း ပေးဆောင်ကြကုန်၏။

---

(၁) အတိုးအညွန့် စားသုံးသည့်အတွက် ဆုတ်ယုတ် ပျက်စီးကြောင်းနှင့် အလှူဒါန ပြုသည့်အတွက် တိုးပွားကြောင်းများကို နောင်တမလွန်ဘဝတွင်ကား မုချ ကြုံတွေ့ရပေမည်။ ဤပစ္စက္ခ မျက်မှောက်တွင်လည်း ဖော်ပြပါ အကြောင်း ၂-ရပ်၏ အကျိုးတရားများကို တနည်းတဖုံ တွေ့ကြုံကြရပေသည်။

အတိုးအညွန့်စားသုံးသောသူများသည် အောက်ခြေအမှတ် (၄၉၁) တွင် ဖော်ပြပါရှိခဲ့သည့်အတိုင်း ဥစ္စာပစ္စည်းကို အတိုင်းထက်အလွန်မက်မောကြသဖြင့် လောကီစည်းစိမ်များကိုပင် မခံစားနိုင်ကြပေ။ အတိုးအညွန့် စားသုံးသောသူများတွင် မကြာခဏ ခိုက်ရန်ဖြစ်ပွားမှုနှင့် လူသတ်မှုများ ဖြစ်ပေါ်တတ်၏။ ယင်းသူတို့သည် မကြာခဏ "ဒေဝါလီ" ခံတတ်ကြ၏။ ယင်းသူတို့သည် ဥစ္စာပစ္စည်းပေါများ ကြွယ်ဝလင့်ကစား မပေးကမ်း မလှူဒါန်းကြသည့်အပြင် ဆင်းရဲသားတို့အား အမျိုးမျိုး နှိပ်စက်ညှဉ်းပန်းကြသည့်အတွက် လူအများတို့၏ ကြည်ညိုလေးစားမှုကိုလည်း မခံကြရပေ။

အလှူဒါနပြုလုပ်သူများမှာကား မိမိတို့၏ဥစ္စာပစ္စည်းများကို အမျိုးဘာသာ သာသနာ ထွန်းကားရေးနှင့် တိုင်းပြည်တိုးပွားရေးတွင် ပေးကမ်းလှူဒါန်းကြ၏။ ဆင်းရဲသားတို့အား ကူညီထောက်မကြ၏။ အများ၏အကျိုးကို သည်ပိုးကြ၏။ ယင်းသူတို့သည် အချင်းချင်း ခင်မင်မြတ်နိုးကြ၏။ လူအများ၏ မေတ္တာကို ခံယူကြရ၏။ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာကြ၏။ ဤမျှမကသေး။ လှူဒါန်းခြင်းအားဖြင့် ဥစ္စာပစ္စည်းများ မလျော့ပါးသည့်အပြင် ဆထက်ထမ်းပိုး တိုးပွား၍လာသည်များကိုလည်း မကြာခဏ တွေ့ရှိရပေသည်၊ ဤကား မျက်မြင်ဒိဋ္ဌပင်။

(၂) "ကဖ္ဖရ်" ဟူသည် 'ဟရာမ်' ဟူ၍ ပိတ်ပင်မြစ်တားထားသော အရာများကို ပြုလုပ်ခွင့်ရှိသော 'ဟလာလ်' အရာများဖြစ်သည်ဟူ၍ ဖွတ်တရွတ် ပြုလုပ်ပြောဆိုသောသူကို ဆိုလိုသည်။

عَلَيۡهِمۡ وَلَا هُمۡ يَحۡزَنُونَ ۝٢٧٧

ယင်းသူတို့၏ အကျိုး ဆုလာဘ်သည် ယင်းသူတို့အား မွေးမြူတော်မူသော အရှင်မြတ်၏အထံတော်၌ (အသင့်)ရှိ၏။ ၎င်းပြင်ယင်းသူတို့အတို့အရာမည်သည့် စိုးရိမ်ကြောက်ရွံ့ခြင်းမျှမရှိချေ။ ၎င်းပြင် ယင်းသူတို့သည် ဝမ်းနည်းပူဆွေးကြမည်လည်းမဟုတ်ပေ။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُواْ ٱتَّقُواْ ٱللَّهَ وَذَرُواْ مَا بَقِيَ مِنَ ٱلرِّبَوٰٓاْ إِن كُنتُم مُّؤۡمِنِينَ ۝٢٧٨

**၂၇၈။** အို-ယုံကြည်သူ အပေါင်းတို့၊ အကယ်၍ အသင်တို့သည် ယုံကြည်သူများဖြစ်ကြပါမူ၊ အလ္လာဟ် အရှင်မြတ်ကို ကြောက်ရွံ့လေးစား ရိုသေခန့်ညား ကြကုန်၊ ၎င်းပြင် ကြွင်းကျန်လျက်ရှိသော *အတိုးအညွန့်များကိုလည်း စွန့်လွှတ်ကြကုန်။* [၁]

فَإِن لَّمۡ تَفۡعَلُواْ فَأۡذَنُواْ بِحَرۡبٖ مِّنَ ٱللَّهِ وَرَسُولِهِۦۖ وَإِن تُبۡتُمۡ فَلَكُمۡ رُءُوسُ أَمۡوَٰلِكُمۡ لَا تَظۡلِمُونَ

**၂၇၉။** တဖန် အကယ်၍သာ အသင်တို့သည် (အတိုးအညွန့် မစားသုံးအပ်ခြင်းနှင့် စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်၏အမိန့်တော်များကို မလိုက်နာ) မပြုလုပ်ခဲ့ကြပါမူ အလ္လာဟ်အရှင်မြတ်နှင့်၎င်း၊ ထို အရှင်မြတ်၏ ရစူလ်တမန်တော် (မုဟမ္မဒ် ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လာမ်)နှင့်၎င်း၊ *စစ်မက် ပြိုင်ဆိုင် တိုက်ခိုက်ကြရန် အဆင်သင့်ရှိကြကုန်၊* [၂]

---

(၁) <u>ဖော်ပြချက်</u>

တမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လာမ်) သည် နောက်ဆုံး ဟဂ်ျပြုတော်မူသော 'ဟိဂ်ျဂျတုလ်ဝဒါအ်' တွင် မိမိ၏ နောက်လိုက် တပည့်သားတို့အား အထူး မှတ်သား နာယူဘွယ် ကောင်းသောသြဝါဒ စကားများကို မြွက်ကြားတော်မူခဲ့၏။ မြွက်ကြားတော် မူသော စကားများအနက်၊ အတိုးအညွန့် စားသုံးခြင်းကို လုံးဝပယ်ဖျက်လိုက်ပြီ ဖြစ်ကြောင်း။ ကြွင်းကျန်ခဲ့သော အတိုးအညွန့်များ အနက် ဦးစွာပဌမ မိမိ၏ ဘကြီးတော် အဗ္ဗါစ် အိဗ်နအဗ်ဒုလ်မုတ္တလိဗ်၏ အတိုးအညွန့်များကို စာရင်းလျှော်လိုက်ပြီ ဖြစ်ကြောင်း အတည့်အလင်း ကျေညာတော်မူခဲ့လေသည်။ ဤသို့အားဖြင့် တမန်တော် သည် အတိုးအညွန့် စားသုံးမှုကို မိမိ၏ ဘကြီးတော်အိမ်မှ လက်တွေ့ စတင်ပယ်ဖျက်၍ ကမ္ဘာအဝှန်းကို စံပြတော်မူခဲ့လေသည်၏။

ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော် (၂:၂၇၈) ကိုဆင်ခြင်၍ ပညာရှင်သုခမိန်များသည် အောက်ပါ အတိုင်း ဓမ္မသတ်ဆုံးဖြတ်ကြသည်။

အကြွင်သူ တစ်ဦးသည် အစ္စလာမ်၏ ပညတ်တော်များ အနက် ပညတ်တော် တရပ်ကို ➢➢

وَلَا تُظْلَمُونَ ﴿٢٧٩﴾

သို့ရာတွင် အကယ်၍သာ၊ အသင်တို့သည် နောင်တတရားရရှိကာ (အတိုးအညွန့် စားသုံးခြင်းကို စွန့်လွှတ်၍ အလ္လာဟ်အရှင်မြတ်ဘက်သို့) ပြန် လှည့်ကြပါလျှင် အသင်တို့သည် မိမိတို့ (ချေးငှား ထားသော) ငွေရင်းများကို ပိုင်ဆိုင်ခွင့် ရှိကြကုန်၏။ (မတည် ငွေရင်းများထက် ပိုမို၍ အတိုးအညွန့် မယူခြင်းအားဖြင့်) အသင်တို့သည် (သူတပါးကို) မတရား ဆုံးရှုံး နစ်နာစေကြ မည်လည်းမဟုတ်၊ (မိမိတို့၏ မတည် ငွေရင်းများကို ပြန်လည်ရရှိခြင်း အားဖြင့် သူတပါး တို့၏) မတရားဆုံးရှုံး နစ်နာစေခြင်းကိုလည်း ခံကြရ မည်မဟုတ်ပေ။

وَإِن كَانَ ذُو عُسْرَةٍ فَنَظِرَةٌ إِلَىٰ مَيْسَرَةٍ ۚ وَأَن تَصَدَّقُوا خَيْرٌ لَّكُمْ ۖ إِن كُنتُمْ تَعْلَمُونَ ﴿٢٨٠﴾

**၂၈၀။** တဖန် အကယ်၍ (မြီစားသည်) ဆင်းရဲ နွမ်းပါးသူဖြစ်၍ (အသင်တို့၏ကြွေးမြီများကို အချိန်မှီ မပေးဆပ်နိုင်ခဲ့ပါမူ ထိုသူအား) ဥစ္စာပစ္စည်း ချောင် လည်သည်အထိ အချိန်ကို ရွှေ့ဆိုင်း၍ပေးရမည်။ သို့ရာတွင် အကယ်၍ အသင်တို့သည် သိတတ်ကြ ပါမူ (မြီစား၏ဒုက္ခကို ထောက်ထားညှာတာသည့် သဘောဖြင့် မိမိတို့ရထိုက်သောကြွေးမြီကိုပင်) အလှူ ဒါနအဖြစ် (စာရင်းချေဖျက်) စွန့်လွှတ်ခြင်းသည် အသင်တို့အဘို့ သာ၍ပင် ကောင်းမြတ်ပေသတည်း။

---

➤➤ ငြင်းပယ်သည်ရှိသော် ထိုသူသည် အစ္စလာမ်၏ ပညတ်တော်အားလုံးကို ငြင်းပယ်သကဲ့သို့ပင် 'ကာဖိရ်' ဖြစ်သွားချေသည်။' ကြည့်- ကဗီရ်ကျမ်း။

(၂) အတိုးအညွန့်မစားသုံးရန် အမိန့်ပညတ်များ ကျရောက်လာပြီးသည့်နောက်တွင် ထိုအမိန့်တော်ကို မနာခံသေးဖြစ်သည် ငြင်းဆန်သူတို့အား "အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်၎င်း၊ ထို အရှင်မြတ်၏ တမန်တော်မြတ်နှင့်၎င်း၊ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန် အသင့်ရှိကြကုန်" ဟူ၍ စစ်ကျေညာထားတော် မူသည်ကို ထောက်ရှုဆင်ခြင်ပါသော် အတိုးအညွန့် စားသုံးခြင်းသည် အဘယ်မျှ အပြစ်ကြီးလေး သည်ကိုကား ကောင်းစွာ သိနိုင်ပေသည်။

အတိုးအညွန့်နှင့် စပ်လျဉ်း၍ အသေးစိတ်ပြဿနာများကို 'ဟိဒါယဟ်' ကျမ်းတွင် ရှုပါကုန်။

وَاتَّقُوا يَوْمًا تُرْجَعُونَ فِيهِ إِلَى اللَّهِ ثُمَّ تُوَفَّىٰ كُلُّ نَفْسٍ مَّا كَسَبَتْ وَهُمْ لَا يُظْلَمُونَ ﴿٢٨١﴾

၂၈၁။ ထို့ပြင်တဝ (အိုး-မွတ်စ်လင်မ် အပေါင်းတို့) အသင်တို့သည် အကြင်နေ့ကို ကြောက်ရွံ့ကြကုန်။ ထိုနေ့တွင် အသင်တို့သည် အလ္လာဟ်အရှင်မြတ် အထံတော်သို့ ပြန်လည်ရောက်ရှိကြကုန်အံ့။

ထို့နောက် လူတိုင်းသည် မိမိတို့ ရှာဖွေဆည်းပူးခဲ့ကြသော (ကောင်းမှု မကောင်းမှုတို့၏ အကျိုးအပြစ်များကို) အပြည့်အစုံပေးခြင်း ခံကြရလတ္တံ့။ သို့ရာတွင် ယင်းသူတို့သည် (ထိုကဲ့သို့ အကျိုးအပြစ်ပေးခြင်း ခံကြရာတွင် တစုံတရာမျှ) မတော်မတရား နစ်နာ ဆုံးရှုံးခြင်းကို ခံကြရမည် မဟုတ်ပေ။

يَا أَيُّهَا الَّذِينَ آمَنُوا إِذَا تَدَايَنتُم بِدَيْنٍ إِلَىٰ أَجَلٍ مُّسَمًّى فَاكْتُبُوهُ وَلْيَكْتُب

၂၈၂။ အိုး-ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိကြကုန်သော (မွတ်စ်လင်မ်) အပေါင်းတို့။ အသင်တို့သည် မိမိတို့အချင်းချင်း (ကုန်စည်ရောင်းဝယ်ရာ၌) ကာလပရိစ္ဆေဒ *သတ်မှတ်ပိုင်းခြား၍* [၁] အကြွေးရောင်းဝယ်ကြသောအခါ၊ ထိုအကြွေးရောင်းဝယ်ခြင်းကိစ္စကို (စာချုပ်စာတမ်းပြုလုပ်) ရေးသားကြကုန်၏။

---

(၁) **ဖော်ပြချက်**

ကုရ်အာန်ကျမ်းလာ မုကဒ္ဒပါဌ်တော် (၂:၂၈၂) နှင့် စပ်လျဉ်း၍ အစ္စလာမ်ဓမ္မသတ်ဆိုင်ရာ သုခမိန်တဦးဖြစ်သူ ဖကီးတ် အီဗ်နုလ်အရ ဗီမာလိကီ က အဆိုပါ မုကဒ္ဒပါဌ်တော်သည် ရောင်းဝယ်ရေးကိစ္စများအတွက် အချုပ်ပင် ဖြစ်ပေသည်ဟူ၍ အတည့်အလင်း ထုတ်ဖော် ရေးသားထားသည်။ သို့ထုတ်ဖော် ရေးသားထားသည်နှင့်အညီ မိမိကျမ်းတွင် အဆိုပါ မုကဒ္ဒပါဌ်တော်ကို ဖွင့်ဆိုရာ၌ ပြဿနာပေါင်း ၅၂-တိတိကိုလည်း အကျယ်တဝင့် ရေးသားဖော်ပြထားသည်။

'သတ်မှတ် ပိုင်းခြားသော ကာလပရိစ္ဆေဒ' ဟူသော စကားကို ထောက်ရှုဆင်ခြင်၍ အကြွေးရောင်းဝယ်ရာတွင် ပြန်လည်ပေးဆပ်မည့်ကာလ ပရိစ္ဆေဒကို မပြတ်မသားမထင်မရှား မပြုလုပ်ကြဘဲ တိကျပြတ်သားစွာ ပြုလုပ်ကြရမည့် အကြောင်းကို 'မုဖတ်စ်စိရီန်' အဋ္ဌကထာရှင်ကြီးများနှင့် 'ဖုကဟာ' ဓမ္မသတ်ရှင်ကြီးများသည် အတည့်အလင်း ထုတ်ဖော်ရေးသားကြကုန်သည်။ ကြည့်-(မာဂျိဒီ)။

بَّيْنَكُمْ كَاتِبٌۢ بِالْعَدْلِ
وَلَا يَأْبَ كَاتِبٌ اَنْ يَّكْتُبَ كَمَا
عَلَّمَهُ اللّٰهُ فَلْيَكْتُبْ ۚ وَلْيُمْلِلِ
الَّذِىْ عَلَيْهِ الْحَقُّ وَلْيَتَّقِ اللّٰهَ
رَبَّهٗ وَلَا يَبْخَسْ مِنْهُ شَيْـًٔا ؕ فَاِنْ
كَانَ الَّذِىْ عَلَيْهِ الْحَقُّ سَفِيْهًا
اَوْ ضَعِيْفًا اَوْ لَا يَسْتَطِيْعُ اَنْ
يُّمِلَّ هُوَ فَلْيُمْلِلْ وَلِيُّهٗ
بِالْعَدْلِ ؕ وَاسْتَشْهِدُوْا
شَهِيْدَيْنِ مِنْ رِّجَالِكُمْ ۚ فَاِنْ

စင်စစ် အသင်တို့သည် မိမိတို့ အချင်းချင်း (ယင်းကဲ့သို့ အကြွေးရောင်းဝယ်ကြသောအခါ) ရေးမှတ်သူ တဦးဦးသည် (စာချုပ်စာတမ်းကို) *တရားမျှတစွာဖြင့် ရေးသား၍ ပေးရမည်။* [၁] ထိုမှတပါးတုံ ရေးမှတ်သူတဦးဦးသည် မိမိအား အလ္လာဟ်အရှင် မြတ် သင်ကြားပြသ၍ ပေးသနားတော်မူသည့် အတိုင်း (စာချုပ်စာတမ်း) ရေးသား၍ ပေးခြင်းကို ငြင်းပယ်ခြင်းမပြုရပေ။ သို့ဖြစ်လေရာ စာရေးသူသည်လည်း ရေးသား၍ပေးရမည်။

ထိုနည်းတူစွာ (ကြွေးမြီ ပေးဆပ်ရန်) *တာဝန်ရှိသောသူ (မြီစား) သည် (ပြောပြ) ရေးသားစေရမည်။* [၂] သို့ရာတွင် (ယင်းကဲ့သို့ ပြောပြ ရေးသားစေသော အချိန်အခါဝယ်) မိမိအား မွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်ကို ကြောက်ရွံ့ကာ ထိုတာဝန်ရှိသည့်အနက် တစုံတရာကိုမျှ လျှော့၍ (ရေးသားစေခြင်းကို) မပြုရချေ။

---

(၁) ရေးမှတ်သောသူများသည် စာချုပ်စာတမ်းများကို မျက်နှာမလိုက်ဘဲ၊ တရားသဖြင့် တိကျမှန်ကန်စွာ ရေးသားကြရပေမည်။ ဤစကားကို ထောက်ရှု၍ စာရေးသူများသည် သစ္စာသမာဓိဂုဏ်နှင့် ပြည့်စုံသောသူများ ဖြစ်ကြရမည့်အပြင် စာချုပ်စာတမ်းဆိုင်ရာ အစ္စလာမ့်စည်းကမ်းချက်များကိုလည်း တတ်ကျွမ်းသောသူများ ဖြစ်ကြရပေမည်ဟု ဓမ္မသတ်ရှင်များက ဆိုကြကုန်သည်။ ကြည့်-(မဒါရိက်)။

စာချုပ်စာတမ်းရေးမှတ်သောသူများသည် စာချုပ်စာတမ်းရေးသားရာ၌ မိမိတို့၏ ပင်ပန်းမှုအတွက် အခကြေးငွေများကိုလည်း ယူပိုင်ခွင့် ရှိကြသည်။
ကြည့်-ထာနဝီမာဂျိဒီ၊ဟာက္ကနီ။

(၂) စာချုပ်စာတမ်းရေးမှတ်ခြင်း၏ အဓိက ရည်ရွယ်ချက်မှာ သူတပါးအား ပေးဆပ်ရန်ရှိသော ကြွေးမြီကို ဝန်ခံခြင်းပင်ဖြစ်ပေရာ ချုပ်ဆိုသော စာချုပ်စာတမ်းကို ရေးသားစေခြင်းမှာ ကြွေးမြီပေးဆပ်ရန် တာဝန်ရှိသော မြီစား၏ တာဝန်ပင် ဖြစ်ပေသည်။

သို့ရေးသားစေရာတွင် အပြည့်အစုံ ရေးသားစေရမည်။ လျှော့ခြင်း၊ ချန်လှပ်ခြင်းများကို မပြုရပေ။ အရေးကိစ္စအဝဝတွင် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ငြားရပေမည်။ မလျော်ကန်မသင့်မြတ်သော အမှုကိုမူ ဘယ်သောအခါမျှ မပြုလုပ်ရပေ။

لَّمْ يَكُوْنَا رَجُلَيْنِ فَرَجُلٌ
وَّامْرَاَتٰنِ مِمَّنْ تَرْضَوْنَ
مِنَ الشُّهَدَآءِ اَنْ تَضِلَّ
اِحْدٰىهُمَا فَتُذَكِّرَ اِحْدٰىهُمَا
الْاُخْرٰى ۭ وَلَا يَاْبَ الشُّهَدَآءُ
اِذَا مَا دُعُوْا ۭ وَلَا تَسْــَٔـمُوْٓا
اَنْ تَكْتُبُوْهُ صَغِيْرًا اَوْ كَبِيْرًا
اِلٰٓى اَجَلِهٖ ۭ ذٰلِكُمْ اَقْسَطُ عِنْدَ
اللّٰهِ وَاَقْوَمُ لِلشَّهَادَةِ
وَاَدْنٰٓى اَلَّا تَرْتَابُوْٓا اِلَّآ اَنْ
تَكُوْنَ تِجَارَةً حَاضِرَةً
تُدِيْرُوْنَهَا بَيْنَكُمْ فَلَيْسَ
عَلَيْكُمْ جُنَاحٌ اَلَّا

တဖန် အကယ်၍ (ကြွေးမြီပေးဆပ်ရန်) တာဝန်ရှိသူကား *ဉာဏ်ထိုင်းသောသူ ဖြစ်သော်ငြင်း၊*[၁] အသက်အရွယ် အိုမင်းရင့်ရော်သူ ဖြစ်သော်ငြင်း၊ အရွယ်မရောက်သေးသော ငယ်ရွယ်သူ ဖြစ်သော်ငြင်း၊ *မစွမ်းမသန်သောသူ ဖြစ်သော်ငြင်း၊*[၂] သို့တည်းမဟုတ် ရေးသားစေရန် မစွမ်းနိုင်သောသူ ဖြစ်သော်ငြင်း၊ ထိုသူ၏ *အုပ်ထိန်းသူ*[၃] (သို့မဟုတ် အာဏာပိုင်သော ကိုယ်စားလှယ်) သည် (ထိုသူ၏ကိုယ်စား) တရားမျှတစွာဖြင့် ရေးသားစေရမည်။

ထို့ပြင်တဝ အသင်တို့သည် (ယင်းကဲ့သို့ စာချုပ် ချုပ်ဆိုကြသည့်ပြင် ခိုင်လုံသည်ထက် ခိုင်လုံစေခြင်းငှာ) မိမိတို့အနက်မှ *ယောကျ်ားနှစ်ဦးကို (လည်း) သက်သေထားရှိကြကုန်။*[၄] တဖန် အကယ်၍ ထိုသက်သေ နှစ်ဦးတို့သည် ယောကျ်ားနှစ်ဦး မဖြစ်ကြပါလျှင် အသင်တို့ သဘောတူညီ နှစ်သက်ကြလေသော သက်သေများအနက်မှ *ယောကျ်ားတဦးနှင့် မိန်းမနှစ်ဦးတို့* သည်ပင်လျှင် *လုံလောက်ကြပေသည်။*[၅] အကြောင်းသော်ကား ယင်းမိန်းမနှစ်ဦးအနက်မှ တယောက်သည် မေ့လျော့ခဲ့ပါမူ ယင်းမိန်းမနှစ်ယောက်အနက် တယောက်သည် ကျန်မိန်းမတယောက်ကို သတိရစေနိုင်ခြင်းကြောင့်တည်း။

---

(၁) 'စဖီဟ်'ဟူသော စကားသည် အသိဉာဏ်နည်းပါးသူကို ဆိုလိုသည်။ ထိုစကားတွင် အရွယ်မရောက်သေးသော ကလေးများနှင့် သတိမေ့လျော့တတ်သော သူအိုများ၊ အသိဉာဏ်ကင်းမဲ့လျက်ရှိသော သူရူးများသည်လည်း အကြုံးဝင်လျက်ရှိကြသည်။ ကြည့်-(ကဗီရ်)။

(၂) 'သဵွအီဖ်' မစွမ်းဆောင်နိုင်သူဟူသည် ဆွံ့အသည့်အတွက်ကြောင့် သော်ငြင်း၊ တိုင်းတပါးသားဖြစ်၍ သက်ဆိုင်ရာဘာသာ စကားကို မတတ်ကျွမ်းသည့်အတွက်ကြောင့် သော်ငြင်း၊ ချို့တဲ့မှု တခုခုကြောင့် စာချုပ်စာတမ်းရေးသားစေရာတွင် မစွမ်းဆောင်နိုင်သောသူများကို ဆိုလိုသည်။ ကြည့်-မာဂျိဒီ။

(၃) "ဝလီ" ဟူသောစကား၌ ရှရီအတ်ပဋိပတ်တွင် ဝေါဟာရသုံးစွဲသော 'ဝလီ'သည်ငြင်း၊ အုပ်ထိန်းသူ၊ ကိုယ်စားလှယ်၊ စကားပြန်များသည်ငြင်း အားလုံး အကြုံးဝင်လျက်ရှိပေသည်။ ကြည့်-(ထာနဝီ)။ ➢➢

تَكْتُبُوهَا ۗ وَأَشْهِدُوٓا۟ إِذَا تَبَايَعْتُمْ ۚ وَلَا يُضَآرَّ كَاتِبٌ وَلَا شَهِيدٌ ۚ وَإِن تَفْعَلُوا۟ فَإِنَّهُۥ فُسُوقٌۢ بِكُمْ ۗ وَٱتَّقُوا۟ ٱللَّهَ ۖ وَيُعَلِّمُكُمُ

ထိုနည်းနှင်နှင် သက်သေများ သည်လည်း ယင်းသူတို့အား (သက်သေခံရန် အတွက်သော်၄င်း၊ သက်သေအဖြစ် ပါဝင်ရန်အတွက်သော်၄င်း) ဘိတ်ခေါ်သောအခါဝယ် *မငြင်းပယ်ကြရပေ။* ၁

ထို့ပြင်တဝ အသင်တို့သည် ကြွေးမြီကိစ္စကို သေးငယ်သည် ဖြစ်စေ၊ ကြီးကျယ်သည် ဖြစ်စေ ချိန်းချက်ထားသော အချိန်ကာလအထိ ရေးသားရသည့်အတွက် *မငြီးငွေ့ကြကုန်လင့်။* ၂

---

➤➤ ရှရီအတ်၌ သုံးစွဲသော ဝလီ၏ အကြောင်းနှင့် စပ်လျဉ်း၍ အကျယ်ကို သိလိုက 'ဟိဒါယတ်' အစရှိသည့် ဓမ္မသတ်ကျမ်းများတွင် ရှုပါကုန်။

⑥ "စာချုပ်စာတမ်းရေးမှတ်ရာတွင် အသင်တို့သည် မိမိတို့အနက်မှ ၂-ဦးကို သက်သေထားရှိကြကုန်" ဟူသော မုက္ခပါဋ္ဌ်တော်ကို ထောက်ရှုခြင်းအားဖြင့် ထိုသက်သေ ၂-ဦးမှာ မွတ်စ်လင်မ်များပင် ဖြစ်ကြရပေမည်။

သက်သေများသည် ကြေးကျွန်မဟုတ်သော သူများဖြစ်ခြင်း၊ အရွယ်ရောက်ခြင်း။ မွတ်စ်လင်မ်ဖြစ်ခြင်းစသည့် ဂုဏ်အင်္ဂါများနှင့် ပြည့်စုံသောသူများသာလျှင် ဖြစ်နိုင်ကြပေသည်။ ကြည့်-မဒါရိက်။

အသိသက်သေများ၌ ရှိအပ်သော ဂုဏ်ပုဒ်များနှင့် စပ်လျဉ်း၍ အကျယ်ကို သိလိုပါက ဟိဒါယဟ်ကျမ်း တတိယတွဲတွင် ရှုပါကုန်။

⑦ စာချုပ်စာတမ်း ရေးမှတ်ရာတွင် ယောကျ်ားသက်သေ ၂-ဦးမရရှိပါက ယောကျ်ားတဦးနှင့် မိန်းမ၂-ဦးကို သက်သေထားကြရမည်ဟု ကုရ်အာန် ကျမ်းမြတ်တွင် အမိန့်တော် လာရှိပါသည်။ အစ္စလာမ် သာသနာတွင် အမျိုးသမီးတို့အား သက်သေခံပိုင်ခွင့် ပေးထားပေသည်။ ယဟူဒီဘာသာတွင်မူ အမျိုးသမီးတို့အား သက်သေခံနိုင်ခွင့်ကို အလျင်း ပေးထားခြင်းမရှိပေ။ အမျိုးသားတဦး၏နေရာတွင် အမျိုးသမီး ၂-ဦး ထားခြင်း၏ အကြောင်း အရပ်ရပ်အနက် အကြောင်းတရပ်မှာ အမျိုးသမီးတို့သည် မေ့တတ်ကြသဖြင့် တဦးမေ့သည်ရှိသော် ကျန်တဦးက သတိပေးရန် အလို့ငှာ ဖြစ်ပေသည်။

ခပ်သိမ်းကုန်သော သက်ရှိသက်မဲ့ အားလုံးတို့ကို ဖန်ဆင်းတော်မူသော အလ္လာဟ်အရှင်မြတ်သည် မိမိ၏ သဗ္ဗညုတဉာဏ်တော်ဖြင့် လူ့သဘာဝကို ကောင်းစွာ သိကျွမ်းတော်မူသည့်အလျောက် သက်ဆိုင်ရာတို့အား ထိုက်တန်ရာတာဝန်များနှင့် ထိုက်တန်ရာ အခွင့်အရေးများကို ခွဲဝေပေးထားတော်မူခြင်းပင် ဖြစ်ပေတည်း။ ဤအကြောင်းနှင့် စပ်လျဉ်း၍ အကျယ်ကို 'အီဗ်နုလ်အရဗီ' တွင် ရှုပါကုန်။

① ရောင်းဝယ်မှုနှင့် စပ်လျဉ်း၍ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်ခဲ့သော အသိသက်သေများကို အကြောင်းကိစ္စရှိ၍ ခေါ်ဆိုပါလျှင် ထိုသက်သေများသည် မငြင်းဆိုကြရပေ။ တာဝန်သိသိ၊ သစ္စာရှိရှိနှင့် မိမိတို့ သိရှိသမျှကို ဟုတ်တိုင်းမှန်ရာ ထွက်ဆိုကြရပေမည်။ ယင်းသို့ အသိသက်သေများ၏ ဟုတ်မှန်ရာကို ထွက်ဆိုခြင်းဖြင့် ရောင်းဝယ်သူတို့၏ ရောင်းဝယ်မှုများသည် အမှန်အတိုင်း ဖြစ်ပေမည်။

② များသောအားဖြင့်ကုန်သည်များသည် အကြွေးရောင်းဝယ်ရာတွင် စာချုပ်စာတမ်းမပြုလုပ်ကြသဖြင့် ➤➤

ٱللَّهُۗ وَٱللَّهُ بِكُلِّ شَىۡءٍ عَلِيمٌ ۝٢٨٢

ဤ(ကဲ့သို့ ရေးသားခြင်း)ကား အလ္လာဟ်အရှင်မြတ်အထံတော်၌ အသင်တို့အဘို့အရာသာ၍ တရားမျှတသော နည်းလမ်းဖြစ်၏။ (ၝင်းပြင်) သက်သေခံရန်အတွက် ပိုမို၍ ခိုင်လုံသေချာသော နည်းဖြစ်၏။ (ၝင်းပြင်) အသင်တို့ ဒွိဟ သံသယ ကင်းစေခြင်းငှာ ပိုမို၍သင့်လျော်သောအချက်လည်း ဖြစ်၏။ သို့ရာတွင် (အရောင်းအဝယ်ပြုလုပ်သော ပစ္စည်းသည်ရှေ့မှောက်တွင်)အရန်သင့်ရှိ၍ လက်ချင်းပြောင်းလွဲ ဖလှယ်ကြလေသော အရောင်းအဝယ်မျိုးဖြစ်သဖြင့် (စာချုပ်စာတမ်း) ရေးသားခြင်းကို မပြုခဲ့ပါမူ အသင်တို့၌တစုံတရာမျှအပြစ်မရှိချေ။ [၁]

သို့ပင်တစေ (ယင်းကဲ့သို့ ပစ္စည်းနှင့် ငွေလက်ငင်းပေးဆပ်သော) ရောင်းဝယ်ခြင်းပြုလုပ်သော အချိန်အခါမျိုး၌လည်း သက်သေများထားရှိကြကုန်။ ၝင်းပြင် မည်သည့်စာရေးသူနှင့် မည်သည့်သက်သေကိုမျှ *နစ်နာဆုံးရှုံးစေခြင်းကိုလည်းမပြုအပ်ပေ။* [၂]

➤➤ အချင်းချင်း မကြာခဏ အငြင်းပွားကြသည်မှာ မျက်မြင်ဒိဋ္ဌပင် ဖြစ်ပေတော့၏။ ထိုအတွက်ကြောင့်ပင် ကြွေးမြီကိစ္စများနှင့် စပ်လျဉ်း၍ ကြီးသည်ဖြစ်စေ၊ ငယ်သည်ဖြစ်စေ၊ နည်းသည်ဖြစ်စေ၊ များသည်ဖြစ်စေ၊ စာချုပ်စာတမ်းများ လုပ်ရာတွင် မငြီးငွေ့ကြကုန်လင့်ဟု အလ္လာဟ်အရှင်မြတ်က မိန့်ကြားထားတော်မူခြင်းဖြစ်သည်။ ယင်းကဲ့သို့စာချုပ်စာတမ်းပြုလုပ်ထားခြင်းသည် တရားမျှတသောနည်းလမ်းလည်းဖြစ်၏။ သက်သေခံရန်အတွက်လည်း ပိုမိုခိုင်လုံ၏။ ဤသို့အားဖြင့် အချင်းချင်း မယုံသင်္ကာဖြစ်ရန်လည်း အကြောင်းမရှိပေ။

(၁) ရောင်းဝယ်မှုများတွင် စာချုပ်စာတမ်းများ ရေးမှတ်ထားကြရမည့် အကြောင်းအထက်တွင် ပါရှိခဲ့ပေပြီ။ သို့ရာတွင် လက်ချင်းပြောင်းလွဲ ဖလှယ်ကြသော သာမည အရောင်းအဝယ်များသည် နေ့စဉ်နှင့်အမျှ အများအပြားရှိပေသည်။ ဤသို့သော ရောင်းဝယ်မှုမျိုးတွင် တဦးနှင့်တဦး ပေးယူသော ငွေများသည်လည်း မများလှသဖြင့် ငြင်းပွားရန် အကြောင်းလည်း မရှိလှပေ။ ဤကဲ့သို့ အရောင်းအဝယ်မျိုးတွင်လည်း စာချုပ်စာတမ်း ရေးမှတ်ကြရမည်ဖြစ်ပါက ရောင်းဝယ်သူများသည် အချိန်ကုန်လူပန်းဖြစ်ကြရပေမည်။ သို့ဖြစ်၍ ထိုအရောင်းအဝယ်မျိုးများတွင် စာချုပ်စာတမ်းများ မပြုလုပ်ကြသည့်အတွက် အပြစ်မရှိကြောင်းကို ကုရ်အာန်ကျမ်းမြတ်တွင် မိန့်ကြားထားတော်မူသည်။

(၂) ရေးမှတ်သောသူများသည် စာချုပ်စာတမ်းများကို တရားသဖြင့် ရေးမှတ်ပေးကြရမည့် အကြောင်း၊ အသိသက်သေများသည်လည်း အကြောင်းကိစ္စရှိ၍ ဘိတ်ခေါ်သောအခါ လာရောက်သက်သေ ထွက်ဆို ➤➤

အကယ်၍သာ အသင်တို့သည် ယင်း( ဆုံးရှုံးနစ်နာစေခြင်း) ကို ပြုလုပ်ကြပါမူ ထိုပြုမူချက်ကား အသင်တို့၌ အပြစ်တရပ်ပင် ဖြစ်၏။ ထိုမှတပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကို ကြောက်ရွံ့ကြကုန်။

အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား (ယင်းကဲ့သို့ အကျိုးဖြစ်ထွန်းစေသော နည်းစံနစ်တို့ကို မိမိ၏ကျေးဇူးတော်ဖြင့်) သင်ကြားပြသ၍ ပေးသနားတော် မူလေသည်။ အကြောင်းသော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

وَإِن كُنتُمْ عَلَىٰ سَفَرٍ وَلَمْ تَجِدُوا كَاتِبًا فَرِهَٰنٌ مَّقْبُوضَةٌ ۖ فَإِنْ أَمِنَ بَعْضُكُم بَعْضًا فَلْيُؤَدِّ الَّذِي اؤْتُمِنَ أَمَانَتَهُ وَلْيَتَّقِ

၂၈၃။ တဖန် အကယ်၍ အသင်တို့သည် ခရီးသွားနေစဉ် (အကြွေးရောင်းဝယ်မှုကို ပြုလုပ်ကြရာ၌ စာချုပ်စာတမ်း ရေးသားရန်အတွက်) ရေးမှတ်သူတဦးမျှကိုပင်မရရှိခဲ့ပါမူ ထိုအခါ (မြီစားသည် မြီရှင်အား) အပေါင်အနှံ ဝတ္ထုပစ္စည်းများကို (ယုံကြည်စိတ်ချရန်အတွက်) လက်ရောက် ပေးထားရမည်။

➢➢ ကြရမည့်အကြောင်း၊ ရေးမှတ်သူများနှင့် သက်သေတို့အား မနစ်နာစေရမည့်အကြောင်း၊ (ဥပမာ စာရေးများနှင့် အသိသက်သေတို့အား လိုအပ်သော ရေးမှတ်ခနှင့် ခရီးစရိတ်များကို အကြောင်းအားလျော်စွာ ထုတ်ပေးရမည်ဖြစ်ကြောင်း) ရေးမှတ်သူများနှင့် အသိသက်သေတို့အား နစ်နာစေခြင်းသည် အပြစ်ဖြစ်ကြောင်းများကို ကုရ်အာန်ကျမ်းမြတ်တွင် မိန့်ကြားထားတော်မူသည်။

**ဖော်ပြချက်**

ကုရ်အာန်ကျမ်းမြတ်လာ မုက္ခပါဌ်တော် (၂း၂၈၂)တွင် အရောင်းအဝယ်နှင့်စပ်လျဉ်း၍ လိုအပ်သော အသေးစိတ် စည်းကမ်းချက်များကို အကျယ်တဝင့် မိန့်ကြားထားတော်မူခြင်းကို ထောက်ရှုခြင်းအားဖြင့် ရောင်းဝယ်ဖောက်ကားမှုသည် အစ္စလာမ်သာသနာရေးနှင့် မဆန့်ကျင်သည့်အပြင် အထူးပင် လိုလားအပ်သော အမှုတရပ်ဖြစ်ကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။

اللّٰهَ رَبَّهٗ ۗ وَلَا تَكۡتُمُوا الشَّهَادَةَ ؕ وَمَنۡ يَّكۡتُمۡهَا فَاِنَّهٗۤ اٰثِمٌ قَلۡبُهٗ ؕ وَاللّٰهُ بِمَا تَعۡمَلُوۡنَ عَلِيۡمٌ ﴿۲۸۳﴾

သို့ရာတွင် အကယ်၍ အသင်တို့အနက် တဦးသည်တဦးကို ယုံကြည်စိတ်ချ(၍ ပစ္စည်းပေါင်နှံရန် မလိုခဲ့)ပါလျှင် ယုံကြည်စိတ်ချခြင်းခံရသော (မြီစား)သည် မိမိအားမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့လေးစားလျက် ထို (ယုံကြည်စိတ်ချသော မြီရှင်) ၏ကြွေးမြီကို ပြေလည်အောင် ပေးဆပ်ရမည်။

၎င်းပြင် အသင်တို့သည် သိမြင်သမျှတို့ကို (သက်သေမခံပဲ) ထိမ်ချန်လျှို့ဝှက်ခြင်း မပြုကြကုန်လင့်။ အမှန်သော်ကား အကြင်သူသည် ယင်းသိမြင်သမျှကို ထိမ်ချန်လျှို့ဝှက်အံ့ ထိုသူ၏ စိတ်နှလုံးသည် [၁] ပြစ်မှုဒုစရိုက်ကို ကျူးလွန်သောသူ၏စိတ်နှလုံးဖြစ်အံ့။

စင်စစ်တမူကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ပြုလုပ်သော ကိစ္စအရပ်ရပ်တို့ကို အကြွင်းမဲ့ သိရှိတော်မူသောအရှင် ဖြစ်တော်မူချေသတည်း။

---

(၁) စိတ်နှလုံးသည် ကုသိုလ်တရား၊ အကုသိုလ်တရားများ၏ မူလအစ ဖြစ်ပွါးရာ ဌါနပင်ဖြစ်ပေသည်။ "အီမာန်" ယုံကြည်ခြင်း သဒ္ဓါတရား၊ ကောင်းမြတ်သော ကုသိုလ်တရားများသည်လည်း စိတ်နှလုံးနှင့်ပင် သက်ဆိုင်ပေသည်။ "ကုဖ်ရ်" အလ္လာဟ်အရှင်မြတ်အား သွေဖည်ငြင်းဆန်ခြင်း၊ "ရှိရ်က်" အလ္လာဟ်အရှင်နှင့် ယှဉ်ဖက်၍ အခြားဘုရားများကို ကိုးကွယ်ခြင်း၊ စသည့် အဆိုးရွားဆုံးသော အကုသိုလ်တရားများသည်လည်း စိတ်နှလုံးနှင့်ပင် သက်ဆိုင်ပေသည်။

သိမြင်သမျှသော သက်သေခံ အကြောင်းကိစ္စကို ထိမ်ချန်လျှို့ဝှက်ခြင်းသည် စိတ်နှလုံးနှင့် သက်ဆိုင်သော ဒုစရိုက်မှုဖြစ်သည်ဟု ဤမုကဒ္ဒပါဌ်တော်တွင် အတိအကျ မိန့်ဆိုထားတော်မူပေရာ ယင်းဒုစရိုက်မှုသည် အဘယ်မျှ ဆိုးရွားသည်ကို ကောင်းစွာသိရှိနိုင်ပေသည်။ ကြည့်(မဒါရိတ်)။

ဤမုကဒ္ဒပါဌ်တော်တွင် "အသင်တို့သည် သိမြင်သမျှကို ထိမ်ချန်မထားကြကုန်လင့်" ဟူသော အမိန့်တော်သည် အကြွေးရောင်းဝယ်ရာတွင် ချုပ်ဆိုသော စာချုပ်စာတမ်းနှင့်သာလျှင် သက်ဆိုင်သည်မဟုတ်ပေ။ ထိုအမိန့်တော်သည် ရောင်းဝယ်ခြင်း၊ အမွေခွဲဝေခြင်း ၊ သေတမ်းစာ ရေးမှတ်ခြင်း၊ ထိမ်းမြားခြင်း၊ ကွာရှင်းခြင်း၊ အစရှိသည့် လောကီ လောကုတ္တရာ ကိစ္စအဝဝ အားလုံးနှင့် သက်ဆိုင်ပေသည်။ ကြည့်-(မာဂျိဒီ)။

لِلّٰهِ مَا فِي السَّمٰوٰتِ وَمَا فِي الْاَرْضِ ؕ وَاِنْ تُبْدُوْا مَا فِيْٓ اَنْفُسِكُمْ اَوْ تُخْفُوْهُ يُحَاسِبْكُمْ بِهِ اللّٰهُ ؕ فَيَغْفِرُ لِمَنْ يَّشَآءُ وَيُعَذِّبُ مَنْ يَّشَآءُ ؕ وَاللّٰهُ عَلٰى كُلِّ شَيْءٍ قَدِيْرٌ ﴿٢٨٤﴾

၂၈၄။ မိုးကောင်းကင်များနှင့် ပထဝီမြေပြင်ဝယ်ရှိသော (သက်ရှိ၊သက်မဲ့) အရာဝတ္ထုအလုံးစုံတို့သည် အလ္လာဟ်အရှင်မြတ်သာလျှင် ပိုင်ဆိုင်တော်မူသော အရာဝတ္ထုများပင်တည်း။

ထို့ပြင်တဝ အသင်တို့သည် မိမိတို့ စိတ်တွင်းဝယ်ရှိလေသော အကြောင်းအရာများကို *ထင်ရှားစွာ ပြုလုပ်ပြောဆိုကြသည်ဖြစ်စေ၊* [၁] ထိမ်ချန်လျှို့ဝှက်ထားကြသည်ဖြစ်စေ၊ အလ္လာဟ် အရှင်မြတ်သည် ယင်းအကြောင်းအရာများကို အသင်တို့အား *စစ်ဆေးမေးမြန်းတော်မူအံ့၊* [၂] ထို့နောက်ထိုအလ္လာဟ်အရှင်မြတ်သည် မိမိနှစ်လိုတော်မူသောသူတို့အား*(အပြစ်များမှ) လွတ်ငြိမ်းချမ်းသာခွင့်ပေးသနားတော်မူ၍* [၃] မိမိအလိုရှိသောသူတို့ကို အပြစ်ဒဏ်ပေးတော်မူအံ့၊ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသော အရှင်ဖြစ်တော်မူပေသတည်း။

---

(၁) **ထုတ်ပြန်ပို့ချတော်မူခြင်း၊**

သာဝကကြီး အဗူဟုရိုင်ရဟ် သခင်က ထုတ်ဖော်ပြောကြားသည်မှာ "မိုးကောင်းကင်များနှင့် ပထဝီမြေပြင်၌ ရှိရှိသမျှသော(သက်ရှိသက်မဲ့) အရာဝတ္ထုအားလုံးတို့သည် အလ္လာဟ်အရှင်မြတ် ပိုင်ဆိုင်တော်မူသော အရာဝတ္ထုများပင်ဖြစ်သည်။ ထို့ပြင်အသင်တို့သည် မိမိတို့စိတ်တွင်း၌ရှိသော အကြောင်းကိစ္စများကို ထင်ရှားစွာ ပြုလုပ်ပြောဆို ကြသည်ဖြစ်စေ ၊ ထိမ်ချန်လျှို့ဝှက် ထားသည်ဖြစ်စေ ထိုအကြောင်းများနှင့် စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား စစ်ကြောမေးမြန်းတော် မူလိမ့်မည် " ဟူသော မုက္ခပါဌ်တော်သည် နဗီတမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) အပေါ်သို့ ကျရောက်သောအခါ တမန်တော်မြတ်၏ သာဝကကြီးများသည် ထိုမုက္ခပါဌ်တော်ကို လေးလံသည်ဟု ယူဆကြသဖြင့် တမန်တော်မြတ်ထံ လာရောက်ပြီး ပုဆစ်ဒူးတုပ်ကာ "အိုု-အလ္လာဟ်အရှင်မြတ်၏ တမန်တော် ၊ အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား မိမိတို့တတ်စွမ်းနိုင်သော ဇကာတ်၊ဂျိဟာဒ်၊အလှူဒါန ပေးကမ်းခြင်းတာဝန်များ ကိုပေးတော်မူခဲ့သည်။ ယခုမူ အလ္လာဟ်အရှင်မြတ်သည် ဤမုက္ခပါဌ်တော်ကို ထုတ်ပြန်ပို့ချတော်မူ၏။ ကျွန်တော်မျိုးတို့သည် ထိုမုက္ခပါဌ်တော်ကို လိုက်နာကျင့်သုံးရန် မစွမ်းနိုင်ကြပါ" ဟု လျှောက်ထားကြလေသည်။

အသင်တို့သည် အသင်တို့အလျင် ရှိခဲ့ကြသော ကျမ်းရလူမျိုးများက "ကျွန်တော်မျိုးတို့ ကြားကြပါပြီသို့ရာတွင်မူကား ကျွန်တော်မျိုးတို့သည် သွေဖည်ကြပါပြီ"ဟု ပြောဆိုကြသကဲ့သို့အသင်တို့လည်း ➤➤

➤➤ ပြောဆိုလိုကြပါသလော။ အသင်တို့ကမူ "ကျွန်တော်မျိုးတို့သည် ကြားနာကြပါပြီ ၊ ကျွန်တော်မျိုးတို့ လိုက်နာကြပါပြီ။ အို-ကျွန်တော်မျိုးတို့အား မွေးမြူတော်မူသောအရှင်၊ ကျွန်တော်မျိုးတို့သည် အရှင်မြတ်၏ လွတ်ငြိမ်းချမ်းသာခွင့်ကို (လိုလားကြပါသည်၊) တဖန် အရှင်မြတ်အထံသို့လျှင် ပြန်လှည့်ကြရပါမည်" ဟူ၍သာ ပြောဆိုကြကုန် ဟု မိန့်ကြားတော်မူလေသည်။

ထိုအခါ သာ၀ကကြီးများသည် တမန်တော်၏ အဆုံးအမဩ၀ါဒကို စဉ်းစားဆင်ခြင်ပြီး ဆိတ်ငြိမ် သွားကြလေသည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် "နဗီတမန်တော်သည် မိမိအားမွေးမြူတော်မူသော အရှင်မြတ်ထံတော်မှ မိမိထံသို့ ထုတ်ပြန်ချမှတ်သော ကျမ်းဂန်(ကုရ်အာန်)ကို ယုံကြည်လေပြီ၊ ထို့အတူ မုအ်မင်န်များသည်လည်း ယုံကြည်ကြလေပြီ" ဟူသော မုက္ခပါဌ်တော်ကို ထုတ်ပြန်ပို့ချတော်မူလေသည်။

ယင်းသို့သာ၀ကကြီးများသည် အမိန့်တော်ကို လိုက်နာကြသောအခါ အလ္လာဟ်အရှင်မြတ်သည် ဖော်ပြပါ မုက္ခပါဌ်တော်ကို "နတ်စ်ခ်" ရှင်းလင်း၍ "အလ္လာဟ်အရှင်မြတ်သည် မည်သူ တဦးတယောက်ကိုမျှ ထိုသူ စွမ်းဆောင်နိုင်သည်ထက် ပိုမို၍ တာ၀န်ပေးတော်မမူချေ" ဟူသော မုက္ခပါဌ်တော်ကို ထုတ်ပြန် ချမှတ်တော်မူလေသည်။ ကြည့် -(အလ်မနာရ်)

**ဖေါ်ပြချက်။**

'နတ်စ်ခ်' အကြောင်းကို ရှေ့တွင် အကျယ်တ၀ှန့်ရေးသားခဲ့ပေပြီ။ အတိတ်ခေတ်ရှိ ပညာရှင်တို့သည် အလိုသဘောကို ရှင်းလင်းပြရန်အလို့ငှါ ထုတ်ပြန်ချမှတ်ခြင်းကိုလည်း 'နတ်စ်ခ်ဟူ၍' သုံးစွဲကြကုန်သည်။

[ကြည့်-(ထာနဝီ)။ အ-၁။စ-၁၆၄။)]

ဤအကြောင်းနှင့်စပ်လျဉ်း၍အကျယ်ကိုသိလိုပါက 'အလ်မနာရ်'ကျမ်းတွင်ရှုပါကုန်။

(၂) အသင်တို့သည် မိမိတို့၏စိတ်တွင်း၌ဖြစ်ပေါ်သော အကြောင်းကိစ္စများကို အထင်အရှား ထုတ်ဖေါ်ပြုလုပ်ပြောဆို ကြသည်ဖြစ်စေ၊ သို့တည်းမဟုတ် ထိမ်ချန်လျှို့ဝှက်ထားကြသည်ဖြစ်စေ၊ အလ္လာဟ်အရှင်မြတ်သည် ထိုအကြောင်း ကိစ္စများနှင့်စပ်လျဉ်း၍ အသင်တို့အား စာကြော မေးမြန်းတော်မူလိမ့်မည်ဟု ဤမုက္ခပါဌ်တော်တွင်လာရှိ၏။

စိတ်နှလုံးတွင် ဖြစ်ပေါ်သော အကြောင်းကိစ္စများသည် နှစ်မျိုးနှစ်စားရှိ၏။ (၁) မိမိအာသာ ဆန္ဒအလျောက် ဒုစရိုက်မှုကိုပြုလုပ်ရန် စိတ်ပိုင်းဖြတ်ခြင်း၊ ဥပမာ "ကုဖ်ရ်" "ရှိရ်က်" . . အစရှိသည့် မှားယွင်းသော မိစ္ဆာအယူ၀ါဒများကို ယုံကြည်ခြင်း။ (၂) အလိုအလျောက်ဖြစ်စေ၊ ရှိုင်တွာန်၏ နှောင့်ယှက်မှု ကြောင့်ဖြစ်စေ စိတ်တွင်မကောင်းသော အတွေးအခေါ်များ ပေါ်ပေါက်ခြင်း၊ ဖေါ်ပြပါ အကြောင်းကိစ္စ နှစ်မျိုးနှစ်စား အနက် ပဌမအမျိုးအစားမှာအပြစ်ရှိ၍ ဒုတိယအမျိုးအစားမှာမူကား အပြစ်မရှိချေ။ကြည့်-(ထာနဝီ)။

စိတ်နှလုံးတွင် ဖြစ်ပေါ်သောအကြောင်း ကိစ္စနှစ်မျိုးနှစ်စားအနက် ဒုတိယအမျိုးအစားနှင့် စပ်လျဉ်း၍ နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လာလ္လာဟု အလိုင်ဟိ၀စလ္လမ်)က "ကျွန်ုပ်၏ တပည့်နောက်လိုက်တို့သည် မိမိတို့၏ စိတ်နှလုံးတွင် အလိုအလျောက် ဖြစ်ပေါ်လာသော စိတ်ပျံ့လွင့်ခြင်းများကို ကာယကံမြောက် ပြုလုပ်ပြောဆိုခြင်း မပြုသမျှကာလပတ်လုံး (ထို စိတ်ပျံ့လွင့်ခြင်းနှင့် စပ်လျဉ်း၍) အလ္လာဟ် အရှင်မြတ်သည် ကျွန်ုပ်၏ တပည့်နောက်လိုက်တို့အား အပြစ်မှ ချမ်းသာခွင့်ပေးသနားတော်မူထားသည်" ဟု မိန့်ကြားတော်မူလေသည်။

ကြည့် (ဗုခါရီ-မွတ်စ်လင်မ်၊)

(၃) အလ္လာဟ်အရှင်မြတ်သည် မိမိ၏အနန္တကရုဏာတော်ဖြင့် အလိုတော်ရှိသော သူများကို ချမ်းသာခွင့် ပေးသနားတော်မူ၏၊ ထိုအရှင်မြတ်သည် တရားမျှတစွာ စီရင်တော်မူသည်နှင့်အညီ အပြစ်ဒဏ်ပေးလိုသော သူများကိုလည်း အပြစ်ဒဏ်ပေးတော်မူသည်။

آمَنَ الرَّسُولُ بِمَا أُنْزِلَ
إِلَيْهِ مِنْ رَبِّهِ وَالْمُؤْمِنُونَ ۚ
كُلٌّ آمَنَ بِاللَّهِ وَمَلَائِكَتِهِ
وَكُتُبِهِ وَرُسُلِهِ ۚ لَا نُفَرِّقُ
بَيْنَ أَحَدٍ مِنْ رُسُلِهِ ۚ وَقَالُوا
سَمِعْنَا وَأَطَعْنَا ۖ غُفْرَانَكَ
رَبَّنَا وَإِلَيْكَ الْمَصِيرُ ٢٨٥

**၂၈၅။** ရစူလ်တမန်တော် (မုဟမ္မဒ် ဆွာလ္လလ္လာဟု အလိုင်ဟိ၀စလ္လမ်) သည် မိမိထံသို့ မိမိအားမွေးမြူတော်မူသော အရှင်မြတ်၏အထံတော်မှ ထုတ်ပြန်ပို့ချသော(*ကုရ်အာန်ကျမ်းမြတ်*)ကို ယုံကြည်လေပြီ။ [1] ထိုနည်းတူစွာ (မုအ်မင်န်) ယုံကြည်သူအပေါင်းတို့သည်လည်း ယုံကြည်ကြချေပြီ။

[ယင်းရစူလ်တမန်တော် မုဟမ္မဒ်(ဆွ)နှင့် တကွ ယုံကြည်သူ] ခပ်သိမ်းသူတို့သည် (တဆူတည်းဖြစ်တော်မူသော) အလ္လာဟ် အရှင်မြတ်ကိုငင်း၊ ထိုအရှင်မြတ်၏ (မလာအိကဟ်) အပါးတော် စေတမန်တော် အပေါင်းတို့ကိုငင်း၊ ထိုအရှင်မြတ်၏ ကျမ်းဂန် အပေါင်းတို့ကိုငင်း၊ ထိုအရှင်မြတ်၏ရစူလ်တမန်တော် အပေါင်းတို့ကိုငင်း၊ ယုံကြည်ကြကုန်၏၊[2] (ထို့ပြင်ယင်းသူတို့က) ကျွန်တော်မျိုးတို့သည် ထိုအရှင်မြတ်၏ ရစူလ်တမန်တော်အပေါင်းတို့အနက်မည်သည့် *ရစူလ်တမန်တော်တပါးကိုမျှ ခွဲခြားခြင်း မပြုကြပါ။* [3] (အားလုံးကိုယုံကြည်ပါသည် ဟု ပြောဆိုကြကုန်၏။)

---

(၁) "နဗီတမန်တော်(မုဟမ္မဒ် ဆွာလ္လလ္လာဟု အလိုင်ဟိ ၀စလ္လာမ်သည်) သည် မိမိအား မွေးမြူတော်မူသော အရှင်မြတ်ထံတော်မှ မိမိထံသို့ထုတ်ပြန်ပို့ချတော်မူသော ကျမ်းဂန်(ကုရ်အာန်ဓမ္မကျွန်) ကို အီမာန် စွဲယူယုံကြည်သည် "ဟူ၍ကုရ်အာန်ကျမ်းမြတ်တွင် မုက္ခပါဠ်တော်လာရှိခြင်းမှာ တမန်တော်မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ၀စလ္လာမ်) ကိုယ်တော်တိုင် မှန်ကန်တိကျစွာ အီမာန်စွဲယူယုံကြည်ကြောင်း အလ္လာဟ် အရှင်မြတ်ထံတော်မှ သက်သေသာဓကတရပ်ဖြစ်ပေသည်။ ကြည့်(ကရ္ရှားဖ်)။

(၂) အလ္လာဟ်အရှင်မြတ်ကိုငင်း၊ ထိုအရှင်မြတ်၏ အပါးတော် စေတမန်များကိုငင်း၊ ကျမ်းဂန်များကိုငင်း၊ ရစူလ် တမန်တော်များကိုငင်း၊ အီမာန် ယုံကြည်ရမည့်အကြောင်း အောက်ခြေအမှတ် (၂၃.၆၉) တွင် အကျယ်တ၀ှန့် ရေးသားခဲ့ပေပြီ။

(၃) ကျွန်တော်မျိုးတို့သည် အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်များကို တပါးနှင့်တပါး ခွဲခြားခြင်း မပြုကြပါ။ ဤကားမွတ်စ်လင်မ်တို့၏ ယုံကြည်ချက်တည်း။

ထိုမှတပါးတုံ ယင်းသူတို့သည် (အလ္လာဟ် အရှင်မြတ်အထံတော်၌) “ကျွန်တော်မျိုးတို့သည် (အရှင်မြတ်၏ အမိန့်တော်များကို) ကြားနာ ကြပါပြီ။ ထို့ပြင်တဝ (ကြားနာသည့်အတိုင်း) လိုက်နာကြပါပြီ။

အို- ကျွန်တော်မျိုးတို့အား မွေးမြူတော်မူသောအရှင် (ကျွန်တော်မျိုးတို့သည် အပြစ်များမှ) အရှင်မြတ်၏ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူခြင်းကိုသာ (ထာဝစဉ် လိုလား တောင့်တကြပါသည်)။ တဖန် (ကျွန်တော်မျိုးတို့၏ ပြန်လည်ရောက်ရှိရာ) နောက်ဆုံး စခန်းသည်လည်း အရှင်မြတ်၏ အထံတော်၌ပင် ဖြစ်ပါသည်” ဟု လျှောက်ထားပန်ကြားကြလေသတည်း။

لَا يُكَلِّفُ اللّٰهُ نَفْسًا اِلَّا
وُسْعَهَا ؕ لَهَا مَا كَسَبَتْ
وَعَلَيْهَا مَا اكْتَسَبَتْ ؕ رَبَّنَا
لَا تُؤَاخِذْنَاۤ اِنْ نَّسِيْنَاۤ اَوْ
اَخْطَاْنَا ۚ رَبَّنَا وَلَا تَحْمِلْ
عَلَيْنَاۤ اِصْرًا كَمَا حَمَلْتَهٗ
عَلَى الَّذِيْنَ مِنْ قَبْلِنَا ۚ رَبَّنَا
وَلَا تُحَمِّلْنَا مَا لَا طَاقَةَ لَنَا
بِهٖ ۚ وَاعْفُ عَنَّا ۫ وَاغْفِرْ لَنَا ۫

၂၈၆။ အလ္လာဟ် အရှင်မြတ်သည် မည်သူ တဦးတယောက်ကိုမျှ ထိုသူ၏ စွမ်းအားထက်ပို၍ တာဝန်ပေးတော်မမူချေ။

မိမိကိုယ်တိုင် ရှာဖွေ ဆည်းပူး ပြုလုပ်ခဲ့သော (ကောင်းမှု၏အကျိုးသည်)သာလျှင် ထိုသူ၏ အဘို့ဖြစ်၍၊ မိမိကိုယ်တိုင် ရှာဖွေဆည်းပူး ပြုကျင့်ခဲ့သော (မကောင်းမှု၏ အပြစ်သည်) သာလျှင် ထိုသူ၏ အပေါ်၌တင်ရှိအံ့။

(အသင်တို့သည် အလ္လာဟ် အရှင်မြတ် အထံတော်၌ ဤသို့ ဆုတောင်းပတ္ထနာ ပြုကြကုန်) အို- ကျွန်တော်မျိုးတို့အား မွေးမြူတော်မူသောအရှင်၊ ကျွန်တော်မျိုးတို့ မေ့လျော့၍ဖြစ်စေ၊ မှားယွင်းချွတ်ချော်၍ဖြစ်စေ (ပြုမိသော မကောင်းမှုနှင့်

وَارْحَمْنَا ۚ أَنْتَ مَوْلٰىنَا فَانْصُرْنَا عَلَى الْقَوْمِ الْكٰفِرِيْنَ ۝٢٨٦

စပ်လျဉ်း၍) အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား အပြစ်ဒဏ်ပေးတော်မမူပါနှင့်။

ထို့ပြင်တဝ အို- ကျွန်တော်မျိုးတို့အား မွေးမြူသောအရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အလျင် ရှေးအထက်အဆက်ဆက်က လူမျိုးတို့အပေါ်၌ တင်ထားတော်မူသကဲ့သို့ ကျွန်တော်မျိုးတို့အပေါ်၌ လေးလံသောဝန်ကို တင်တော်မမူပါနှင့်။

ထို့ပြင် အို- ကျွန်တော်မျိုး တို့အား မွေးမြူတော် မူသောအရှင်၊ ကျွန်တော်မျိုးတို့ မတတ်စွမ်းနိုင်သော တာဝန်ကိုလည်း အရှင်မြတ် သည် ကျွန်တော်မျိုးတို့အား ထမ်းရွက်စေတော် မမူပါနှင့်။ ထို့ပြင် အရှင်မြတ်သည် ကျွန်တော်မျိုး တို့ကို ခွင့်လွှတ်တော် မူပါ၊ ၎င်းပြင် အရှင်မြတ်သည် ကျွန်တော်မျိုး တို့အား (အပြစ်များမှ) လွတ်ငြိမ်းချမ်းသာခွင့်ကို ပေးသနားတော် မူပါ။ ထို့ပြင် အရှင်မြတ်သည် ကျွန်တော်မျိုးတို့ အပေါ်ဝယ်၊ သနားညှာတာတော် မူပါ။ အရှင်မြတ်သည်သာလျှင် ကျွန်တော်မျိုးတို့အား ကူညီစောင်မတော်မူသောအရှင် ဖြစ်တော်မူပါ၏၊ အရှင်မြတ်သည် ကျွန်တော်မျိုး တို့အား "ကာဖိရ်" မယုံမကြည် သွေဖည် ငြင်းဆန်သောသူများအပေါ်ဝယ် (အောင်နိုင်စေခြင်းငှါ) ကူညီစောင်မတော်မူပါ။

## အီမ်ရာန်၏မျိုးနွယ်ကဏ္ဍ

سُورَةُ آلِ عِمْرَانَ

ဤကဏ္ဍ၏ အမည်နာမမှာ "အီမ်ရာန်၏မျိုးနွယ်" ကဏ္ဍဖြစ်သည်။ မဒီနာမြို့တော်၌ ကျရောက်ခဲ့သည်။ ဤကဏ္ဍတွင် အာယတ်တော်ပေါင်း ( ၁၉၉ )၊ ရှုကူအ်အပိုဒ်ပေါင်း ( ၂၀ ) အသီးသီးပါရှိ၏။

**ကဏ္ဍ၏အမည်နာမ**

အတိတ်ခေတ်တွင် "အီမ်ရာန်" ဟူသောအမည်ဖြင့် ပုဂ္ဂိုလ်ကြီးနှစ်ဦးရှိခဲ့၏။ နဗီ တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)၏ ဘခင်၏အမည်မှာလည်း "အီမ်ရာန်"ဟူ၍ပင်ဖြစ်၏။ မရ်ယမ် သခင်မ၏ ဘခင်၏အမည်မှာလည်း "အီမ်ရာန်" ဟူ၍ပင်ဖြစ်၏။

ဤကဏ္ဍတွင်ပါရှိသော "အီမ်ရာန်" သည် ဖော်ပြပါ အီမ်ရာန် ၂-ဦးအနက် အဘယ်အီမ်ရာန်နည်း။ အချို့ပညာရှင်များကမူ တမန်တော်မူစာ (အလိုင်ဟစ္စလာမ်)၏ ဘခင်ကို ဆိုလိုကြသည်။ သို့ရာတွင် ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော်များကို ရှေ့နောက်ဆက်စပ် ဆင်ခြင်သုံးသပ်သည်ရှိသော်အဆိုပါ "အီမ်ရာန်"သည် မရ်ယမ်သခင်မ၏ ဘခင်ကိုသာ ဆိုလိုသည်မှာ ထင်ရှားလှပေသည်။

ကြည့်-အီဗ်နုကဆီရ်၊ ကဗီရ်၊ ရှုဟုလ်မအာနီ၊
[မာဂျီဒီ။ အ-၃။ စ-၁၃၀၊ အအ-၈၆]

ဤကဏ္ဍတွင် အီမ်ရာန်၏ သမီးတော်, မရ်ယမ်သခင်မ၊ မြေးတော် နဗီတမန်တော် အီစာ (အလိုင်အစ္စလာမ်)၏ အတ္ထုပ္ပတ္တိနှင့် ခရစ်ယာန်သာသနာ၀င်တို့၏ အကြောင်းများကို အထူးတလည် ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။ ဤသည်ကိုပင် အကြောင်းပြု၍ ဤကဏ္ဍကို "အီမ်ရာန်၏မျိုးနွယ်" ကဏ္ဍဟူ၍ အမည်မှည့်ခေါ်ထားခြင်းဖြစ်သည်။

**ဖော်ပြချက်။**

အီမ်ရာန်မျိုးနွယ်ကဏ္ဍသည် မဒီနာမြို့၌ ထုတ်ပြန်ပို့ချတော်မူသော ကဏ္ဍဖြစ်သည်။ ဤကဏ္ဍတွင် "အာယတ်" ပါဒ ၁၉၉၊ အပိုဒ် ၂၀၊ ပုဒ် ၃၅၄၂၊ အက္ခရာ ၁၅၃၃၆၊ အသီးသီးပါရှိ၏။

**မှတ်ချက်။**

အီမ်ရာန်မျိုးနွယ်ကဏ္ဍတွင်ပါရှိသော အာယတ်၊ ပါဒများကို သတ်မှတ်ပိုင်းခြား ရေတွက်ရာတွင် ပညာရှင်များသည် အဆိုပြားလျက်ရှိကြပေသည်။ များသောအားဖြင့် ပညာရှင်များသည် အီမ်ရာန် မျိုးနွယ်ကဏ္ဍလာ အာယတ်များကို ပါဒ **၂၀၀** ဖြစ်သည်ဟူ၍ ရေတွက်ကြကုန်၏။ သို့ရာတွင် ကုရ်အာန်ကျမ်းမြတ်ကို ဌာန်ကရိုဏ်းကျနစွာ ရွတ်ဘတ်သရဇ္ဈာယ်သော "ကာရီ" ခေါ် ပညာရှင်များကမူ အီမ်ရာန်မျိုးနွယ်ကဏ္ဍ၌ လာရှိသော အာယတ်များမှာ **၁၉၉** ဖြစ်သည်ဟူ၍ ရေတွက်ကြကုန်၏။ သို့ကွာခြားခြင်း၏ အကြောင်းမှာ အီမ်ရာန်မျိုးနွယ်ကဏ္ဍ၏အစ၌ပါရှိသော မုက္ခပါဌ်တော် ( نَزَّلَ عَلَيْكَ الْكِتَـٰبَ ) မှ ( ذُو انْتِقَامٍ ) အထိကို ပိုင်းခြားရေတွက်ရာတွင် သဘောကွဲလွဲခြင်းကြောင့်ပင်ဖြစ်သည်။ အချို့ပညာရှင်များသည် ( نَزَّلَ عَلَيْكَ الْكِتَـٰبَ ) မှ ( الإنجيل ) သို့မဟုတ် ( الفرقان ) အထိကို အာယတ်တခုဟူ၍၎င်း၊ ( إِنَّ الَّذِينَ كَفَرُوا ) မှ ( ذُو انْتِقَامٍ ) အထိကို အာယတ်တခုဟူ၍၎င်း၊ ရေတွက်ကြကုန်၏။ 

➤➤ အချို့ပညာရှင်များကမူ ( نَزَّلَ عَلَيْكَ الْكِتٰبَ ) မှ ( ذُوانْتِقَامٍ ) အထိကို အာယတ် ၂ ခုမဟုတ်၊ အာယတ်တခုဟူ၍သာ ရေတွက်ကြကုန်၏။

မောင်လာနာထာနဝီသည်လည်း အိမ်ရာန်မျိုးနွယ်ကဏ္ဍ၌ ပါရှိသော အာယတ်များကို (၁၉၉) ဟူ၍ပင် မိမိ၏ကျမ်း၌ ရေးသားဖော်ပြထားသည်ကို တွေ့ရှိရပေသည်။ (ကျွန်ုပ်တို့သည်လည်း အိမ်ရာန်မျိုးနွယ် ကဏ္ဍတွင် အာယတ်တော်ပေါင်း (၁၉၉) ဟူ၍ပင် ရေးသားဖော်ပြသွားမည်ဖြစ်ပါကြောင်း)။

**<u>အိမ်ရာန်မျိုးနွယ်ကဏ္ဍ၏မြင့်မြတ်ခြင်း။</u>**

အိမ်ရာန်မျိုးနွယ်ကဏ္ဍ၏ မြင့်မြတ်ခြင်းအကြောင်းနှင့် စပ်လျဉ်း၍ နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လာမ်) က အောက်ပါအတိုင်း မိန့်ကြားတော်မူခဲ့လေသည်။

"အကြင်သူတဦးသည် အိမ်ရာန်မျိုးနွယ် ကဏ္ဍကို ရွတ်ဘတ်သရဇ္ဈာယ်အံ့၊ ထိုသူသည် ထိုကဏ္ဍလာ မုက္ခပါဠ်တော်တိုင်း၏အစား ဂျဟန္နမ်၏တံတား (ပေါ်သို့ လျှောက်သွားခြင်း)မှ လွတ်ငြိမ်းချမ်းသာခွင့်ရအံ့။ အကြင်သူတဦးသည် "ဂျုမ်အဟ်" သောကြာနေ့တွင် အိမ်ရာန်မျိုးနွယ် အကြောင်းပါသော ကဏ္ဍကို ရွတ်ဘတ်သရဇ္ဈာယ်အံ့၊ အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ ကောင်းကင်တမန်တော်များသည် နေလုံး ကွယ်ပျောက်သွားသည်အထိ ထိုသူ့အပေါ်သို့ မေတ္တာပို့သကြကုန်လတ္တံ့."။

**<u>ထုတ်ပြန်ပို့ချတော်မူခြင်း။</u>**

အရဗ်နိုင်ငံတော် ယမန်ပြည်တွင် နဂျ်ရာန်အမည်ဖြင့် ကျယ်ပြန့်သောမြို့နယ်တွင် အရဗ်နိုင်ငံသား ခရစ်ယာန်သာသနာဝင်များသည် စည်ကားသိုက်မြိုက်စွာ မှီတင်းနေထိုင်ခဲ့ကြ၏။ ထိုမြို့နယ်တွင် ခရစ်ယာန် သာသနာဝင်များ၏ ကြီးကျယ်ခမ်းနားသော ( Cloister ) ခရစ်ယာန် ဘုန်းကြီးကျောင်းတကျောင်းရှိ၏။ ထိုသူတို့သည် ထိုဘုန်းကြီးကျောင်းကို မက္ကာမြို့တော်ရှိ အလ္လာဟ်အရှင်မြတ်၏ကျောင်းတော်နှင့် တန်းတူဟူ၍ ယူဆကြ၏။

အရဗ်နိုင်ငံရှိ ခရစ်ယာန်သာသနာဝင်များအတွက် ထိုဘုန်းကြီးကျောင်းသည် အကြီးမားဆုံးသော ဘုန်းကြီးကျောင်းပင်ဖြစ်၏။ ထိုဘုန်းကြီးကျောင်း တွင် "စိုင်ယိဒ်"၊ "အာကိဗ်" ဘွဲ့ရ နာမည်ကြီး ခရစ်ယာန်ဘုန်းကြီးများ သီတင်းသုံးနေထိုင်ကြ၏။ ထိုဘုန်းကြီးကျောင်းတွင် ဝင်ရောက်သောသူသည် ဘေးရန် အပေါင်းမှ လွတ်ငြိမ်းချမ်းသာခွင့်ရရှိလေ၏။ ထိုဘုန်းကြီးကျောင်းတွင် လှူဒါန်းထားသော ပစ္စည်းများ အမြောက်အများရှိ၍ နှစ်စဉ်ဝင်ငွေမှာ နှစ်သိန်းရှိ၏။ ထိုဘုန်းကြီးကျောင်းတွင် ဂိုဏ်းချုပ်ဘုန်းကြီးမှာ "အဗူ ဟာရိဆဟ်" ဖြစ်၏။ ထိုဂိုဏ်းချုပ်ဘုန်းကြီးအား ထိုဘွဲ့တော်များကို ရောမဘုရင်က လှူဒါန်း ဆပ်ကပ်ထား၏။

ဟိဂျ်ရီသက္ကရာဇ် (၇)ခုနှစ်တွင် နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က နဂျ်ရာန်မြို့ရှိ ခရစ်ယာန်သာသနာဝင်များထံသို့ အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ရန် အလို့ငှာ သဝဏ်လွှာ တစောင် ပို့တော်မူလိုက်သည့်အခါ နဂျ်ရာန်မြို့မှ ခရစ်ယာန်ဂိုဏ်းချုပ် ဘုန်းကြီးနှင့်တကွ ခရစ်ယာန် ဘုန်းကြီး အပါး ၆၀ တို့သည် မဒီနာမြို့သို့ ကြွရောက်လာ၏။

နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် နဂျ်ရာန်မြို့မှ ကြွရောက်လာသော ဘုန်းတော်ကြီးများအား မိမိ၏ ဗလီကျောင်းတော်တွင် တည်းခိုစေတော်မူ၏။ တခဏအကြာတွင် ဝတ်ပြုရန်အချိန် ကျရောက်လာ၍ ခရစ်ယာန်ဘုန်းတော်ကြီးများသည် ဝတ်ပြုရန် ကြံရွယ်ကြသောအခါ "ဆွဟာဗဟ်" ➤➤

➤➤ သာဝကကြီးများက မြစ်တားကြလေသည်။ သို့သော် နဗီတမန်တော်က ခွင့်ပြုတော်မူသဖြင့် ခရစ်ယာန် ဘုန်းတော်ကြီးများသည် အရှေ့အရပ်သို့ မျက်နှာမူ၍ ဝတ်ပြုကြလေသည်။ (ဘာသာခြားများနှင့် ဆက်ဆံရာတွင် အစ္စလာမ်တရားက မည်မျှသဘောထားကြီးကြောင်းကို ဤနေရာတွင် ထင်ရှားစွာ သိမြင်နိုင်ပေသည်။)

နဂျ်ရာန်မြို့မှ ကြွရောက်လာကြသော ဘုန်းတော်ကြီးများက သာသနာရေးနှင့် စပ်လျဉ်း၍ တမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား အမျိုးမျိုး မေးလျှောက်ကြရာ နဗီတမန်တော်သည် အလ္လာဟ် အရှင်မြတ် ညွှန်ကြားတော်မူသည့်အတိုင်း မေးလျှောက်သမျှသော အချက်အလက်တို့ကို ကောင်းစွာ ဖြေကြားတော် မူလေသည်။

မဒီနာမြို့၌ နဂျ်ရာန်မြို့မှ ကြွရောက်လာသော ဘုန်းတော်ကြီးများ တည်းခိုနေကြသည့် အခိုက်တွင် ယင်းသူတို့နှင့်ပတ်သက်၍ အလ္လာဟ်အရှင်မြတ်သည် အီမ်ရာန်မျိုးနွယ်ကဏ္ဍ၏ ပဌမပိုင်းတွင်ပါရှိသော မုက္ခပါဌ်တော်(၈၀)ကို ထုတ်ပြန်ပို့ချတော်မူလေသည်။ ကြည့်-စီရတွန်နဗီ၊ ဒုတိယတွဲ၊ စာမျက်နှာ ၃၇-၃၈။

**မှတ်ချက်။**

အီမ်ရာန်မျိုးနွယ်ကဏ္ဍသည် ခရစ်ယာန်သာသနာဝင်တို့၏ မှားယွင်းချက်များကို ပယ်ဖျက်ရန် ထုတ်ပြန်ပို့ချတော်မူသော ကဏ္ဍဖြစ်ပေရာ ဤကဏ္ဍတွင် ဖော်ပြပါရှိသော အချက်အလက်တို့သည် များသော အားဖြင့် ခရစ်ယာန်သာသနာ၏ မှားယွင်းချက်များကို ပယ်ဖျက်ဖြေရှင်းလျက်ရှိသည်သာ ဖြစ်ပေသည်။

**ဂါဝီကဏ္ဍနှင့် အီမ်ရာန်မျိုးနွယ်ကဏ္ဍ၏ ဆက်စပ်မှု။**

ဂါဝီကဏ္ဍအဆုံးတွင် "ကျွန်တော်မျိုးတို့အား ကာဖိရ် သွေဖည်ငြင်းဆိုသော သူများအပေါ်၌ (အောင်နိုင်ရန်) အရှင်မြတ်သည် ကူညီစောင်မတော်မူပါ" ဟူသော ဆုတောင်းပတ္ထနာကို တွေ့ရှိရ၏။ "အီမ်ရာန် မျိုးနွယ်" ကဏ္ဍသည် ထိုဆုတောင်းပတ္ထနာ၏ အကျိုးဆက်ပင်ဖြစ်သည်။ အဘယ့်ကြောင့်ဟူမူ အီမ်ရာန်မျိုးနွယ် ကဏ္ဍတွင် များစွာသောနေရာများ၌ မွတ်စ်လင်မ်တို့သည် ကာဖိရ်များနှင့် နှုတ်အားဖြင့်၎င်း၊ လက်အားဖြင့်၎င်း ပြိုင်ဆိုင်ရာတွင် အောင်မြင်ခဲ့ကြသည့် အကြောင်းများကို အထူးတလည် ဖွင့်ဟ မိန့်ဆိုထားတော် မူခြင်းကြောင့်တည်း။ ကြည့်-(ထာနဝီ)။

ဂါဝီကဏ္ဍတွင် အကျယ်အားဖြင့် ဖော်ပြပါရှိသော အကြောင်းများသည် အီမ်ရာန်မျိုးနွယ်ကဏ္ဍတွင် အကျဉ်းအားဖြင့်ပါရှိ၏။ ဂါဝီကဏ္ဍတွင် အကျဉ်းအားဖြင့် ဖော်ပြပါရှိသော အကြောင်းများသည် အီမ်ရာန်မျိုးနွယ် ကဏ္ဍတွင် အကျယ်အားဖြင့် ဖော်ပြပါရှိ၏။

ဂါဝီကဏ္ဍတွင် ယဟူဒီများနှင့် စပ်လျဉ်းသောအကြောင်း အများအပြားပါရှိ၏။ ခရစ်ယာန်များ၏ အကြောင်းအနည်းငယ်မျှပါရှိ၏။ အီမ်ရာန်မျိုးနွယ်ကဏ္ဍတွင်မူ ခရစ်ယာန်များအကြောင်း အများအပြားပါရှိ၍ ယဟူဒီများအကြောင်း အနည်းငယ်မျှ ပါရှိပေ၏။

ဂါဝီကဏ္ဍတွင် မြေဖြင့် ဖန်ဆင်းခြင်းခံရသော ကမ္ဘာဦးဘခင် အာဒမ်(အလိုင်ဟစ္စလာမ်)၏ အကြောင်း ပါရှိ၏။ အီမ်ရာန်မျိုးနွယ်ကဏ္ဍတွင် အဘမရှိဘဲလျက် မီးရှူးသန့်စင် ဖွားမြင်တော်မူသော တမန်တော်အီစာ (အလိုင်ဟစ္စလာမ်)၏ အကြောင်းပါရှိလေ၏။

ဂါဝီကဏ္ဍတွင် စက်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်း၏ ရည်ရွယ်ချက်နှင့် စည်းကမ်းချက်များပါရှိ၏။ ဤကဏ္ဍတွင်မူ "အုဟုဒ်" စစ်ပွဲအကြောင်း အကျယ်တဝင့် ပါရှိ၏။

ဂါဝီကဏ္ဍ၏ အစတွင် အောင်မြင်သူများ၏အကြောင်း ပါရှိသကဲ့သို့ ဤကဏ္ဍ၏ အဆုံးတွင်လည်း အောင်မြင်သူများ၏ အကြောင်းပါရှိ၏။

بِسۡمِ ٱللَّهِ ٱلرَّحۡمَٰنِ ٱلرَّحِيمِ

အစဉ်မပြတ်သနားကြင်နာညှာတာတော်မူထသော၊
အနန္တကရုဏာတော်ရှင်ဖြစ်တော်မူထသော
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့်
(အစပြုပါ၏)။

الٓمٓ ①

၁။ အလိဖ်လာမ်မီမ်။

ٱللَّهُ لَآ إِلَٰهَ إِلَّا هُوَ ٱلۡحَيُّ ٱلۡقَيُّومُ ②

၂။ အလ္လာဟ် အရှင်မြတ် သည်သာလျှင် (ခဝပ်ကိုးကွယ်ရာ အရှင်ဖြစ်တော်မူ၏။) ထိုအရှင်မြတ်မှတပါး ခဝပ်ကိုးကွယ်ရာဟူ၍ အလျှင်း မရှိချေ။ (ထိုအရှင်မြတ်သည် မရဏ သေခြင်းတရားမှ လုံးဝကင်းစင်တော်မူ၍) နိစ္စထာဝရ အမြဲ ရှင်နေတော်မူသော အရှင်၊ (မိမိကိုယ်တော်တိုင် အမြဲထာဝရ တည်နေတော်မူ၍ သက်ရှိသက်မဲ့ အပေါင်းတို့အား) ထိန်းသိမ်း စောင့်ရှောက်တော် မူသောအရှင်မြတ် ဖြစ်တော်မူလေသတည်း။ [၁]

---

(၁) အလ္လာဟ်အရှင်မြတ် သည်သာလျှင် ခဝပ်ကိုးကွယ်ခြင်းကို ခံထိုက်တော်မူ၏။ ထိုအရှင်မြတ်မှအပ ခဝပ်ကိုးကွယ်ခြင်း ခံထိုက်သူ ဟူ၍ တဦးတယောက်မျှ အလျှင်းမရှိချေ။ သို့ဖြစ်သောကြောင့် ခရစ်ယာန် သာသနာဝင်တို့ယူဆသကဲ့သို့ နဗီတမန်တော် အီစာ(အလိုင်ဟိစ္စလာမ်)သည် အဘယ်မှာလျှင် ခဝပ်ကိုးကွယ်ရာ အရှင်ဖြစ်နိုင်ပါအံ့နည်း။

အလ္လာဟ်အရှင်မြတ်သည် အို၊ နာ၊ သေရေး၊ ဒုက္ခဘေးအပေါင်းတို့မှ လုံးဝကင်းစင်တော်မူသော အရှင်ဖြစ်တော်မူသည်။ အလ္လာဟ်အရှင်မြတ်၌ အစဟူ၍လည်းမရှိ၊ အဆုံးဟူ၍လည်းမရှိ၊ ထိုအရှင်မြတ်သည် နိစ္စထာဝရ အမြဲ တည်ရှိတော်မူသော အရှင်ဖြစ်တော်မူ၏။ နဗီတမန်တော် အီစာ (အလိုင်ဟစ္စလာမ်) သည်ကား လူသားတစ်ဦးမျှသာ ဖြစ်သောကြောင့် အိုခြင်း၊ နာခြင်း၊ သေခြင်းစသော အနိစ္စ သဘောတရားများနှင့် လုံးဝမကင်းနိုင်ချေ။ ဤအကြောင်းနှင့် စပ်လျဉ်း၍ အကျယ်သိလိုပါက မာရိုဒီ။ အတွဲ၊ ၁၊ အအ-(၉၇၉)တွင် ရှုပါကုန်။

အလ္လာဟ်အရှင်မြတ်သည် မိမိကိုယ်တိုင် အစဉ်ထာဝရ တည်ရှိတော်မူ၍၊ အရာခပ်သိမ်းတို့ကို မွေးမြူထိန်းသိမ်းစောင့်ရှောက်တော်မူသော အရှင်ဖြစ်တော်မူ၏။ အလ္လာဟ်အရှင်မြတ်မှာ အဘယ်အရာကိုမျှ တောင့်တမှု ကြောင့်ကြမှုဟူ၍ အလျှင်းမရှိပေ။ အရာခပ်သိမ်းတို့သည် တဆူတည်းသော အလ္လာဟ်အရှင်မြတ် ကိုသာလျှင် မှီခိုအားထားကြရပေသည်။

ဤမုက္ခပါဌ်တော်ကို ထောက်ရှုခြင်းအားဖြင့် ခရစ်ယာန်သာသနာဝင်တို့၏ အယူအဆများမှာ မှားယွင်းလျက်ရှိကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။

نَزَّلَ عَلَيْكَ الْكِتٰبَ بِالْحَقِّ
مُصَدِّقًا لِّمَا بَيْنَ يَدَيْهِ
وَاَنْزَلَ التَّوْرٰىةَ وَالْاِنْجِيْلَ ۝٣
مِنْ قَبْلُ هُدًى لِّلنَّاسِ
وَاَنْزَلَ الْفُرْقَانَ ۗ اِنَّ الَّذِيْنَ
كَفَرُوْا بِاٰيٰتِ اللّٰهِ لَهُمْ عَذَابٌ
شَدِيْدٌ ۗ وَاللّٰهُ عَزِيْزٌ ذُو
انْتِقَامٍ ۝٤

၃။-၄။ ထို(အလ္လာဟ်)အရှင်မြတ်သည် အသင်၏ အပေါ်ဝယ် ကျမ်းမြတ်(ကုရ်အာန်)ကို မှန်ကန်တိကျစွာဖြင့် ထုတ်ပြန်ပို့ချတော်မူလေပြီ။ (ယင်းကုရ်အာန်ကျမ်းတော်မြတ်သည်) မိမိထက်ရှေးဦးစွာ ကျရောက်ခဲ့သော ဒေသနာတော် ကျမ်းဂန်များကို ထောက်ခံလျက်ရှိပေသည်။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည် ရှေးအထက်ကျော်ကာလ၌ လူခပင်းတို့အတို့ တရားဓမ္မအဖြစ် "တော်ရာတ်" ကျမ်းမြတ်နှင့် "အင်န်ဂျီလ်" ကျမ်းမြတ်ကိုလည်း ထုတ်ပြန်ပို့ချတော်မူခဲ့လေပြီ။ ထိုမှတပါးတုံ အရှင်မြတ်သည် (မိမိစေလွှတ်တော် မူသော နဗီ တမန်တော်များကို ထောက်ခံစေခြင်းအားဖြင့်) အမှားအမှန်ကို ခွဲခြားသိစွမ်းနိုင်စေသောအရာကိုလည်း ချပေးသနားတော်မူခဲ့ချေပြီ။

မုချဧကန် အလ္လာဟ်အရှင်မြတ်၏ သက်သေသာဓကလက္ခဏာရပ်များကို မယုံမကြည် သွေဖည်ငြင်းပယ်ကြသော သူတို့အတို့ ပြင်းထန်သော ပြစ်ဒဏ်သည် အသင့်ရှိ၏။

အကြောင်းမူကား အလ္လာဟ်အရှင်မြတ်သည် တန်ခိုးအာနုဘော်ဖြင့် လွှမ်းမိုးတော်မူသောအရှင်၊ တုံ့ပြန်လက်စားချေတော် မူသော အရှင် ဖြစ်တော်မူပေသတည်း။

اِنَّ اللّٰهَ لَا يَخْفٰى عَلَيْهِ شَيْءٌ
فِى الْاَرْضِ وَلَا فِى السَّمَآءِ ۝٥

၅။ ဧကန်မုချ ပထဝီမြေပြင်၌ ရှိရှိသမျှသော အရာဝတ္ထုများသည်၎င်း၊ အာကာသကောင်းကင်၌ ရှိရှိသမျှသော အရာဝတ္ထုများသည်၎င်း၊ မည်သည့်တစုံတခုမျှ အလ္လာဟ်အရှင်မြတ်ထံတော်၌ ဖုံးကွယ်နေသည်ဟူ၍ မရှိချေ။

هُوَ الَّذِي يُصَوِّرُكُمْ فِي الْأَرْحَامِ كَيْفَ يَشَاءُ ۚ لَا إِلَٰهَ إِلَّا هُوَ الْعَزِيزُ الْحَكِيمُ ⑥

၆။ ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသည့်အတိုင်း၊ (မိခင်တို့၏) သားအိမ်များတွင် အသင်တို့၏ ရုပ်ဆင်းသဏ္ဌာန်များကို ပြုလုပ်ဖန်ဆင်းတော်မူသော အရှင်မြတ်ပင် (ဖြစ်တော်မူ၏)။

ထို အရှင်မြတ်မှတပါး ခဝပ် ကိုးကွယ်ရာ အရှင်ဟူ၍ အလျင်းမရှိပြီ၊ *(ထိုအရှင်မြတ်သည်) တန်ခိုးအာနုဘော်ဖြင့် လွှမ်းမိုးတော်မူသောအရှင်၊ အကျိုးအကြောင်း ဆင်ခြင်တုံဉာဏ်ပညာနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူချေသတည်း။* ၁

هُوَ الَّذِي أَنزَلَ عَلَيْكَ الْكِتَابَ مِنْهُ آيَاتٌ مُّحْكَمَاتٌ هُنَّ أُمُّ الْكِتَابِ وَأُخَرُ مُتَشَابِهَاتٌ ۖ فَأَمَّا الَّذِينَ فِي قُلُوبِهِمْ زَيْغٌ فَيَتَّبِعُونَ مَا تَشَابَهَ مِنْهُ ابْتِغَاءَ الْفِتْنَةِ وَابْتِغَاءَ تَأْوِيلِهِ ۗ

၇။ ထို အလ္လာဟ်အရှင်မြတ်သည် အသင့်အပေါ်ဝယ် ကျမ်းမြတ်ကုရ်အာန်ကို ထုတ်ပြန်ပို့ချတော်မူသော အရှင်မြတ်ပင်တည်း။ ထိုကျမ်းမြတ်အနက် မပြောင်းမလွဲ *ပေါ်လွင်ထင်ရှား ပြတ်သား၍ အနက်အဓိပ္ပါယ် တမျိုးတစားတည်း ထွက်သော အာယတ်တော်များလည်း ရှိပေ၏။* ၂ ယင်း အာယတ်တော်များသည်သာလျှင် ကုရ်အာန် ကျမ်းမြတ်၏ မူလအရင်းခံ အခြေအမြစ် ဖြစ်လေသည်။ ထို့ပြင်တဝအခြား အာယတ်တော်များမှာမူကား *အဓိပ္ပါယ်ပြားသော၊ ဆင်တူရိုးမှား ဖြစ်သော အာယတ်တော်များလည်းရှိ၏။* ၃

(၁) ဤမုကဒ္ဓပါဠ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင်၊ ကိုးကွယ်ရာ တဆူတည်းဖြစ်တော်မူသောအရှင်၊ အနန္တ တန်ခိုးတော်ဖြင့် အရာရာကို နိုင်နင်းလွှမ်းမိုးတော်မူသော အရှင်၊ "ဟစ်ကမတ်" ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူကြောင်း ဖွင့်ဟမိန့်ဆိုထားတော်မူသည်။ နဗီတမန်တော် အီစာ(အလိုင်ဟစ္စလာမ်) ၌ကား ထိုထိုသော တန်ခိုးတော်များသည် အဘယ်မှာလျှင် ရှိနိုင်အံ့နည်း။

(၂) "မုဟ်ကမ်" ဟူသည်ကား ပုဒ်ပဒအားဖြင့်၎င်း၊ အနက်အဓိပ္ပါယ်အားဖြင့်၎င်း၊ ယုံမှားသံသယ မရှိသော မုကဒ္ဓပါဠ်တော်ကို ဆိုလိုသည်။ (ရာဃိဗ်)

"မုဟ်ကမ်" ဟူသည်ကား အနက်အဓိပ္ပါယ်ထင်ရှားသော၊ ရည်ညွှန်းချက်ပေါ်လွင်သော၊ အနက်သဘော ပြတ်သားသော၊ ယုံမှားသံသယ ကင်းသော မုကဒ္ဓပါဠ်တော်ကို ဆိုလိုသည်။ (ရှုဟ်) ▶▶

وَمَا يَعْلَمُ تَأْوِيلَهُۥٓ إِلَّا ٱللَّهُ ۗ وَٱلرَّٰسِخُونَ فِى ٱلْعِلْمِ يَقُولُونَ ءَامَنَّا بِهِۦ كُلٌّ مِّنْ عِندِ رَبِّنَا ۗ

သို့ရာတွင် မည်သို့ပင်ဖြစ်စေ စိတ်နှလုံးတွင် သွေဖည် ယိမ်းယိုင်မှု ရှိသောသူတို့မူကား (လူခပင်းတို့အား သာသနာရေးတွင်) လမ်းမှား စေလို၍၎င်း၊ ထိုအာယတ်တော်များ၏ အဓိပ္ပါယ် များကို အမှားကောက်လို၍၎င်း၊ ယင်း ဆင်တူရိုးမှား အာယတ်တော်များကိုပင် လိုက်နာလိုက်စား ကြကုန်၏။ ၁

---

➤➤ "မုဟ်ကမ်"၏ အလိုသဘောမှာကား၊ ယင်းမုက္ခပါဌ်တော်တွင် ပါရှိသော ပုဒ်ပဒများသည် အဓိပ္ပါယ်ပြားသည်မရှိ၊ ထိုပုဒ်ပဒများကို ကြားနာသူသည်လည်း အဓိပ္ပါယ်တခုတည်းကိုသာ ကောက်ယူနိုင်၏။ (ဂျဆ်ဆွာဆ္ဆ)

(၃) "မုတရှာဗိဟ်" ဟူသည်ကား ပုဒ်ပဒ အားဖြင့်သော်၎င်း၊ အနက် အဓိပ္ပါယ် အားဖြင့်သော်၎င်း၊ အခြား မုက္ခပါဌ်တော်များနှင့် ဆင်တူရိုးမှား ဖြစ်နေသည့်အတွက် အနက်ဖွင့်ရန် ခဲယဉ်းသော မုက္ခပါဌ်တော်ကို ဆိုလိုသည်။ (ရာဃိဗ်)

အဆိုတရပ်အရ "မုတရှာဗိဟ်" ဟူသည်ကား အနက်အဓိပ္ပါယ် အမျိုးမျိုးထွက်နိုင်သော မုက္ခပါဌ်တော်ကိုဆိုသည်။ (ကုရ်တုဗီ)

"မုတရှာဗိဟာတ်" ဟူသော မုက္ခပါဌ်တော်များနှင့် စပ်လျဉ်း၍ ရာဃိဗ်၊ အလ်မနာရ်နှင့် အီဗ်နုတိုင်မိယဟ် သခင်၏ကျမ်းတွင် အကျယ်တဝင့် ရေးသားဖော်ပြထားသည်ကို တွေ့ရှိနိုင်ပေသည်။ ကျမ်းလေးမည်စိုး၍ ဤတွင် မရေးပြီ။

**<u>မှတ်ချက်။</u>**

အထက်တွင် ဖော်ပြပါရှိသည့်အတိုင်း ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော်များသည် 'မုဟ်ကမာတ်'။ 'မုတရှာဗိဟာတ်' ဟူ၍ နှစ်မျိုးနှစ်စားရှိ၏။ ထိုနှစ်မျိုးနှစ်စားအနက် 'မုဟ်ကမာတ်' မည်တွင်သော မုက္ခပါဌ်တော်များသည်သာလျှင် ကုရ်အာန်ကျမ်းမြတ်၏မူလအရင်းခံ အခြေအမြစ်များ ဖြစ်ပေသည်။ 'မုဟ်ကမာတ်' အနက်အဓိပ္ပါယ် ပေါ်လွင်ထင်ရှားသော မုက္ခပါဌ်တော်များ ရှိပါလျက် 'မုတရှာဗိဟာတ်' အနက်အဓိပ္ပါယ် အမျိုးမျိုးထွက်သော၊ မပေါ်လွင်သော မုက္ခပါဌ်တော်များကို ကိုးကားခြင်းမပြုအပ်ပေ။ ကြည့်-(ကဗီရ်)။

(၁) စိတ်နှလုံးများတွင် သွေဖည်ယိမ်းယိုင်မှုရှိ၍ မရိုးသား မဖြောင့်မတ်သောသူများသည် သူတပါးတို့အား ဇဝေဇဝါဖြစ်၍ အလွဲလွဲ အချော်ချော် ဖြစ်စေရန်အလို့ငှာ 'မုဟ်ကမာတ်' ခေါ် အနက်အဓိပ္ပါယ်ပေါ်လွင်ထင်ရှားပြတ်သားသော မုက္ခပါဌ်တော်များကို လျစ်လျူရှုပြီး 'မုတရှာဗိဟာတ်' ခေါ် အနက်အဓိပ္ပါယ် မပေါ်လွင် မထင်ရှားသော မုက္ခပါဌ်တော်များကိုသာ မရိုးသားသည့်သဘောဖြင့် မိမိတို့ အလိုကျ အမှားမှား အယွင်းယွင်း အနက်ကောက်ကြပေသည်။ ကြည့်-အီဗ်နုဂျရီရ်၊ ထာနဝီ။

وَمَا يَذَّكَّرُ إِلَّآ أُولُوا الْأَلْبَابِ ۝٧

အမှန်စင်စစ် ယင်းအဓိပ္ပါယ်ပြားသော ဆင်တူရိုးမှားဖြစ်သော အာယတ်တော်များ၏ မှန်ကန်သော အနက်အဓိပ္ပါယ် အလိုသဘောကိုမူကား အလ္လာဟ် *အရှင်မြတ်မှတပါး မည်သူမျှမသိချေ။* [၁]

သို့ရာတွင် ပညာအရာ၌ ကျွမ်းကျင်လိမ္မာရင့်သန်သော ပါရဂူများကမူ (ကုရ်အာန်ကျမ်းလာ မုဟ်ကမာတ်၊ မုတရှာ၊ ဗိဟာတ်၊ အာယတ်တော်များ) အားလုံးတို့သည် ကျွန်ုပ်တို့အား မွေးမြူတော်မူသော အရှင်မြတ် အထံတော်မှပင် (ကျရောက်လာသော အာယတ်တော်များ) ဖြစ်ပေရာ ကျွန်ုပ်တို့သည် ယင်းအဓိပ္ပါယ်ပြားသော၊ ဆင်တူရိုးမှား ဖြစ်သော အာယတ်တော်များကိုလည်း (ခြွင်းချက်မရှိ လုံး၀)ယုံကြည်ကြပါသည်ဟု ပြောဆိုကြကုန်၏။

အမှန်သော်ကား စင်ကြယ်သန့်ရှင်း အပြစ်ကင်းသည့် ပညာရှင်အပေါင်းတို့မှအပ အခြားသူများ တရားလမ်းမှန် မရနိုင်ချေ။

---

(၁) ( وَمَا يَعْلَمُ تَأْوِيلَهُ إِلَّا اللَّهُ ۗ وَالرَّاسِخُونَ فِي الْعِلْمِ يَقُولُونَ آمَنَّا بِهِ ) ဟူသော မုက္ခပါဌ်တော်ကို ရွတ်ဘတ်ရာတွင် အချို့ပညာရှင်များသည် ( إِلَّا اللَّهُ ) ၌ စကားရပ်၍ ( وَمَا يَعْلَمُ تَأْوِيلَهُ إِلَّا اللَّهُ ) ကို ၀ါကျတစ်ခု၊ ( وَالرَّاسِخُونَ فِي الْعِلْمِ يَقُولُونَ آمَنَّا بِهِ ) ကို သီးခြား၀ါကျတခုဟု မှတ်ယူကြ၏။

အချို့ပညာရှင်တို့ကမူ ( إِلَّا اللَّهُ ) ၌မရပ်ဘဲ အဆိုပါ မုက္ခပါဌ်တော်ကို ၀ါကျတခုတည်းဟု မှတ်ယူကြသည်။ ကြည့်-အလ်မနာရ်။

၀ါကျနှစ်ခု မှတ်ယူသည့်အခါ ယင်းမုက္ခပါဌ်တော်၏ အဓိပ္ပါယ်မှာ ဤစာအုပ်တွင် ရေးသားထားသည့် အတိုင်းဖြစ်ပေမည်။

၀ါကျတခုတည်း မှတ်ယူသည့်အခါ၌မူ အဆိုပါမုက္ခပါဌ်တော်၏ အဓိပ္ပါယ်မှာ အောက်ပါအတိုင်း ဖြစ်သွားပေမည်။

"ထို(မုတရှာဗိဟာတ်)၏ အနက်အဓိပ္ပါယ် သဘောကို အလ္လာဟ် အရှင်မြတ် နှင့် ကျွမ်းကျင်လိမ္မာသော ပါရဂူများမှအပ အခြားမည်သူမျှ မသိချေ။"

رَبَّنَا لَا تُزِغْ قُلُوبَنَا بَعْدَ إِذْ هَدَيْتَنَا وَهَبْ لَنَا مِن لَّدُنكَ رَحْمَةً ۚ إِنَّكَ أَنتَ الْوَهَّابُ ⑧

၈။ ယင်းကဲ့သို့ အသိအမြင် ဉာဏ်ပညာအရာ၌ ရင့်သန်သောသူတို့သည် ဤကဲ့သို့ဆုပန်ကြကုန်၏) အို-ကျွန်တော်မျိုးတို့အား မွေးမြူတော်မူသောအရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား တရားလမ်းမှန်သို့ ပို့ဆောင်တော် မူပြီးနောက် ကျွန်တော်မျိုးတို့၏ စိတ်နှလုံးများကို တိမ်းစောင်းလွဲချော်အောင် ပြုတော်မမူပါနှင့်။ ကျွန်တော်မျိုးအား (တရားလမ်း ပေါ်၌ မြဲမြံစွာ တည်တံ့နိုင်စေခြင်းငှာ) မိမိ အထံတော်မှ ကရုဏာတရားကို ပေးသနားတော်မူပါ။

ဧကန်အမှန် အရှင်မြတ် သည်သာလျှင် ရက်ရောစွာပေးသနားတော်မူသော အရှင်မြတ်ဖြစ်တော်မူပါသည်။ [၁]

رَبَّنَا إِنَّكَ جَامِعُ النَّاسِ لِيَوْمٍ لَّا رَيْبَ فِيهِ ۚ إِنَّ اللَّهَ لَا يُخْلِفُ الْمِيعَادَ ⑨

၉။ အို- ကျွန်တော်မျိုးတို့အား မွေးမြူတော်မူသောအရှင်၊ မုချဧကန် အရှင်မြတ်သည် အကြင်(ရှင်ပြန်ထမည့်)နေ့တွင် လူခပ်သိမ်းတို့အား စုရုံးတော်မူမည့် အရှင်မြတ်ပင်တည်း။ ထိုနေ့နှင့် စပ်လျဉ်း၍ လုံးဝ ယုံမှားသံသယမရှိပါ။

မုချဧကန် အလ္လာဟ် အရှင်မြတ်သည် ထားရှိတော်မူသော ကတိသစ္စာတော်ကို အလျင်းဖောက်ဖျက်တော်မူမည် မဟုတ်ပါ။ [၂]

---

(၁) **ဖော်ပြချက်**

နဗီတမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာ ဟု အလိုင်ဟိ ဝစလ္လာမ်) သည် ဤမုက္ခပါဌ်တော်လာ ဆုတောင်းပတ္ထနာကို အမြဲတစေ ရွတ်ဘတ်တော်မူလေ့ရှိသည်။ ကြည့်- (အီဗ်နုကဆီရ်)။

(၂) **ဖော်ပြချက်**

ဤ မုက္ခပါဌ်တော်ပါ ဆုတောင်းပတ္ထနာကို ထောက်ရှုခြင်းအားဖြင့် ပညာပါရဂူတို့သည် အဘယ်မျှပင် သီလ၊ သမာဓိ၊ ပညာ ဂုဏ်သိက္ခာနှင့် ပြည့်စုံကြသော်လည်း မပလွှားကြောင်း၊ အခါခပ်သိမ်း အလ္လာဟ် အရှင်မြတ်၏ တရားမွေ့သြဝါဒကိုသာ အထူးလိုလားတောင့်တကြောင်း၊ အရှင်မြတ်၏ ကရုဏာတော်ကိုသာ ခိုလှုံလိုကြောင်း၊ နောင်တမလွန် ဘဝအရေး စိတ်မအေးကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။

إِنَّ الَّذِينَ كَفَرُوا لَن تُغْنِيَ عَنْهُمْ أَمْوَالُهُمْ وَلَا أَوْلَادُهُم مِّنَ اللَّهِ شَيْئًا ۖ وَأُولَٰئِكَ هُمْ وَقُودُ النَّارِ ⑩

**၁၀။** ဧကန်အမှန် မယုံမကြည် သွေဖည်ငြင်းပယ်သောသူတို့၏ ပစ္စည်းဥစ္စာ ရတနာများသည်လည်းကောင်း၊ ယင်းသူတို့၏ သားသမီးရတနာများသည်လည်းကောင်း၊ ယင်းသူတို့အတို့ (ရှင်ပြန်ထမည့်နေ့၌) အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်မှ (ကာကွယ်ရန်) စိုးစဉ်းမျှပင် အသုံးဝင်မည်မဟုတ်ချေ။ [၁] စင်စစ်သော်ကား ယင်းသူတို့သည် "ဂျဟန္နမ်" ငရဲမီး၏ လောင်စာများသာ ဖြစ်ကြလတ္တံ့။

كَدَأْبِ آلِ فِرْعَوْنَ ۙ وَالَّذِينَ مِن قَبْلِهِمْ ۚ كَذَّبُوا بِآيَاتِنَا

**၁၁။** (ထိုသူတို့အလေ့အကျင့်သည်) ဖိရ်အောင်န်၏ နောက်လိုက် အခြွေအရံတို့နှင့် ယင်းဖိရ်အောင်န်၏ အခြွေအရံများအလျှင် ရှိခဲ့ကြသောသူများ၏ အလေ့ *အကျင့်ကဲ့သို့ပင်ဖြစ်၏။* [၂]

---

① (က)။"မိဘများသည် 'အီမာန်' ယုံကြည်ခြင်း သဒ္ဓါတရားနှင့် လုံးဝကင်းကွာပြီး ကာဖိရ်အဖြစ်နှင့် သေဆုံးသွားကြသော်လည်း ကျန်ရစ်ခဲ့သော သားသမီးများက အလှူဒါန ပေးကမ်းလှူဒါန်းခြင်းအားဖြင့် ထိုမိဘများသည် နောင်တမလွန်ဘဝတွင် လွတ်ငြိမ်းချမ်းသာခွင့် အကျိုးရရှိနိုင်ကြမည်"ဟု အတိတ်ခေတ်ရှိ လူ့ဗါလတို့သည် ထင်မှတ်ခဲ့ကြသည်။ အလ္လာဟ်အရှင်မြတ်သည် ဤမုကဒ္ဒပါဌ်တော်တွင် ယင်းသူတို့၏ ထင်မှတ်ချက် မှားယွင်းကြောင်းကို ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။ ကြည့်-(မာဂျီဒီ)။

(ခ)။ ကာဖိရ်မိစ္ဆာဒိဋ္ဌိတို့သည် မိမိတို့၌ ဥစ္စာဓနကုံလုံကြွယ်ဝခြင်း၊ သားသမီး အခြွေအရံ ပေါများခြင်းများကို အကြောင်းပြု၍ ငါတို့သည် ဘယ်သောအခါ၌မျှ ပြစ်ဒဏ်တပ်ရိုက် စီရင်ခြင်းကို ခံကြရမည်မဟုတ်ဟု ထင်မှတ်ခဲ့ကြသည်။ ကြည့်-ကုရ်အာန် (၃၄:၃၅)။

ယင်းကာဖိရ်တို့၏ ယူဆချက်တရပ်မှာ 'ကိယာမတ်' သေရာမှတဖန် ပြန်လည် ရှင်ပြန်ထရမည့်နေ့ဟူသည်ကားမရှိ၊ အကယ်၍ ရှင်ပြန်ထရသည်ရှိသော် ငါတို့သည် ဤပစ္စက္ခဘဝထက်ပင် ပိုမို၍ စည်းစိမ်ချမ်းသာများကို မုချရရှိကြပေမည်ဟူ၍ ထင်မှတ်ပြောဆိုခဲ့ကြပေသည်။

ကြည့်-ကုရ်အာန် (၁၈:၃၅-၃၆။ ၁၉း ၇၇-၇၈)။

အလ္လာဟ် အရှင်မြတ်သည် ဤမုကဒ္ဒပါဌ်တော်တွင် ကာဖိရ်တို့၏ ဖော်ပြပါ ယူဆပြောဆိုချက်များ မှားယွင်းကြောင်း၊ ယင်းကာဖိရ်တို့သည် ဤဘဝမှာပင် စစ်ရေးနိမ့်၍ နောင်တမလွန်ဘဝတွင် ငရဲလားကြမည့် အကြောင်းဖွင့်ဟမိန့်ဆိုထားတော်မူလေသည်။ သို့ဖွင့်ဟမိန့်ဆိုထားတော်မူသည့်အတိုင်းလည်း ကာဖိရ်တို့သည် ဤပစ္စက္ခ မျက်မှောက်ဘဝမှာပင် အကြီးအကျယ် စစ်ရေးနိမ့်ခဲ့ကြရပြီ မဟုတ်ပါတကား။ ကြည့်-အလ်မနာရ်။

② ကာဖိရ်တို့၏ အလေ့အကျင့်များသည် "ဖိရ်အောင်န်"၏ နောက်လိုက် အခြွေအရံများနှင့် ယင်းသူတို့ အလျှင်ရှိခဲ့ကြသော သူများ၏ အလေ့အကျင့်များကဲ့သို့ပင် ဖြစ်သည်ဟု မိန့်ဆိုထားတော်မူခြင်း၏ ➤➤

فَاَخَذَهُمُ اللّٰهُ بِذُنُوْبِهِمْ ؕ وَاللّٰهُ شَدِيْدُ الْعِقَابِ ⑪

(ထို အလေ့အကျင့်မှာ) ယင်းသူတို့သည် ငါအရှင်မြတ်၏ အမိန့်တော် (သက်သေခံလက္ခဏာ တော်) များကို မဟုတ်မမှန် မုသားဖြစ်သည်ဟူ၍ ငြင်းဆို ခဲ့ကြလေသည်။ သို့ဖြစ်ပေရာ အလ္လာဟ် အရှင်မြတ်သည် ယင်းသူတို့အား ယင်းသူတို့၏ ပြစ်မှုဒုစရိုက်များကြောင့် အရေးယူ အပြစ်ဒဏ် ပေးတော်မူခဲ့ချေပြီ။

*အမှန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် ပြင်းထန်စွာအပြစ်ဒဏ်ပေးတော်မူသော အရှင်မြတ် ပင်တည်း။* ၁

---

➤➤ အလိုသဘောထား: အတိတ်ခေတ်ရှိ 'ဖိရ်အောင်န်'၏ အခြွေအရံများနှင့် ယင်းသူတို့ အလျင်ရှိခဲ့သော သူများသည် အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်လာတရား ဒေသနာတော်များ၊ တန်ခိုးပြာဋိဟာများ၊ အမိန့်ဗျာဒိတ်များနှင့် သက်သေလက္ခဏာစသည်များကို မဟုတ်မမှန် မုသားဖြစ်သည်ဟု စွပ်စွဲပြောဆိုပြီး သွေဖည် ငြင်းဆန်ခဲ့ကြသဖြင့် အရှင်မြတ်၏ ပြစ်ဒဏ်တော်ကို ခံခဲ့ကြရပေသည်။

ယင်းသို့ ပြစ်ဒဏ်တော်ကို ခံကြရသည့်အခါတွင် ယင်းသူတို့၏ ဥစ္စာပစ္စည်း၊ သားသမီးများသည် ယင်းသူတို့အတို့ စိုးစဉ်းမျှ အသုံးမဝင်၊ အကျိုးမသက်ရောက်ခဲ့ကြပေ။ ဤကား ရာဇဝင် အထင်အရှားပင်။

ထို့အတူပင် အလ္လာဟ်အရှင်မြတ်၏ တရားဒေသနာတော်များကို သွေဖည်ငြင်းဆန်လျက်ရှိသော ကာဖိရ်တို့သည်လည်း တချိန်သော် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်တော်ကို မုချခံကြရပေမည်။ သို့ ပြစ်ဒဏ် တော်ကို ခံကြရသည့်အခါတွင် ယင်းသူတို့၏ မှီခိုအားထားရာဖြစ်သော ဥစ္စာပစ္စည်း သားသမီးများသည်လည်း ယင်းသူတို့အတို့ အနည်းငယ်မျှပင် အသုံးဝင်မည်မဟုတ်ပေ။ ကြည့်-(မာရိဒီ)။

၁ အလ္လာဟ်အရှင်မြတ်သည် အနန္တကရုဏာတော်ရှင်၊ တရားမျှတတော်မူသောအရှင်၊ အရာရာကို နိုင်နင်းလွှမ်းမိုးတော်မူသော အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူ၏။ အလ္လာဟ်အရှင်မြတ်သည် ချီးမြှောက်သင့်သူအား ချီးမြှောက်တော်မူ၏။ အပြစ်ပေးသင့်သူအား အပြစ်ပေးတော်မူ၏။

အလွန်အကျွံ ဆိုးသွမ်းသူတို့အား ထိုက်သည့်အားလျော်စွာ ပြင်းထန်စွာပင် ပြစ်ဒဏ် တပ်ရိုက် စီရင်တော်မူ၏။ အပြစ်ပေးသင့် ပေးအပ်သူတို့အား ထိုသူ၏ အပြစ်အားလျော်စွာ ပြစ်ဒဏ်ပေးခြင်းသည်သာလျှင် တရားမျှတသည်မည်၏။

သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်၌ ရှိတော်မူသော အနန္တ ကရုဏာတော်ရှင်တည်းဟူသော ဂုဏ်တော်နှင့် ပြင်းထန်စွာ အပြစ်ဒဏ်တပ်ရိုက်စီရင်တော်မူသော အရှင်တည်းဟူသော ဂုဏ်တော်များသည် အချင်းချင်း မဆန့်ကျင်သည်သာမက အလ္လာဟ်အရှင်မြတ်သည် တန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူကြောင်း အထူးပင် ထင်ရှားစေသည်။

قُلْ لِّلَّذِيْنَ كَفَرُوْا سَتُغْلَبُوْنَ وَتُحْشَرُوْنَ اِلٰى جَهَنَّمَ ؕ وَبِئْسَ الْمِهَادُ ⑫

၁၂။ (အို-နဗီတမန်တော်) အသင်သည် (ယင်း) မယုံမကြည် သွေဖည် ငြင်းပယ်ကြကုန်သော ကာဖိရ်တို့ကိုပြောကြားပါလေ။ "မကြာမီအတွင်း အသင်တို့သည် (ဤပစ္စုပ္ပန် မျက်မှောက် ဘဝတွင်လည်း မွတ်စ်လင်မ်တို့၏) *နိုင်နင်းလွှမ်းမိုးခြင်းကိုခံကြရကုန်အံ့။* [၁] ၎င်းပြင် (နောင်တမလွန်ဘဝတွင်လည်း) "ဂျဟန္နမ်" ငရဲဘုံ၌ စုရုံးစေခြင်းကို ခံကြရကုန်အံ့။ စင်စစ် ထို(ငရဲဘုံတည်းဟူသော) နေရာထိုင်ခင်းသည် အလွန် ယုတ်ညံ့ သိမ်ဖျင်းလှစွာတကား။

---

(၁) မကြာမြင့်မီအတွင်း နိုင်နင်းလွှမ်းမိုးခြင်းကိုခံကြရမည်ဟူသော ဗျာဒိတ်စကားနှင့်စပ်လျဉ်း၍ ယင်းကာဖိရ်တို့သည် နောင်တမလွန်ဘဝတွင် ငရဲလားကြမည်ကို မဆိုထားဘိ၊ ဤပစ္စုပ္ပန်မျက်မှောက်ဘဝတွင်လည်း မကြာမြင့်မီအတွင်း စစ်ရေးနိမ့်ကြမည်ဟု "မုဖတ်စ်စိရီန်' အဋ္ဌကထာရှင်အပေါင်းတို့က တညီတညွတ်တည်း ဆိုကြကုန်သည်။ အဆိုပါ ဗျာဒိတ်တော်အရ ကာဖိရ်တို့သည် ဤမျက်မှောက်ဘဝမှာပင် မျက်ဝါးထင်ထင် စစ်ရေးရှုံးနိမ့်ခဲ့ကြချေပြီ။

အချို့ ပညာရှင်များက အဆိုပါ ဗျာဒိတ်တော်သည် 'ဗဒ်ရ်' စစ်ပွဲတွင် မက္ကာမြို့သား မုရှ်ရိက်များ စစ်ရေးနိမ့်ခဲ့သည်ကို ရည်ညွှန်းသည်ဟု ဆိုကြ၏။

အချို့ ပညာရှင်များက အဆိုပါဗျာဒိတ်တော်သည် မဒီနာမြို့ရှိအင်အားကြီးမားများပြားလှသော ယဟူဒီဘာသာဝင်များ မရှုမလှစစ်ရေးရှုံးနိမ့်ခဲ့ကြသည်ကို ရည်ညွှန်းသည်ဟုဆိုကြ၏။ ကြည့်(ရူလ်မအာနီ) အချို့ပညာရှင်များကမူ အဆိုပါကုရ်အာန်ကျမ်းလာ ဗျာဒိတ်တော်သည် ယဟူဒီနှင့်မုရှ်ရိက်အားလုံးကို ရည်ညွှန်းသည် ဟုဆိုကြသည်။ ကြည့်-(ဗဟ်ရုလ်မုဟီတ်ွ) ဤတတိယအဆိုသည် ပိုမို၍သင့်မြတ်လှပေသည်။ ကြည့်-(မာဂျိဒီ)။

**ဖော်ပြချက်**

အဆိုပါ ဗျာဒိတ်တော်သည် ဗဒ်ရ်စစ်ပွဲ မဖြစ်မီ ၂-နှစ် အလျင် ထုတ်ပြန် ပို့ချတော်မူသော မုက္ခပါဠ်တော်ဖြစ်သည်။ ကြည့်-အလ်ဗတ်ရလ်မုတီတ်ွ၊ ထိုစဉ်အခါဝယ် မွတ်စ်လင်မ်တို့သည် စား၊ သောက်၊ နေ၊ ထိုင်ရေးများတွင် အဘက်ဘက်၌ ဆင်းရဲပင်ပန်းနွမ်းနယ်လျက် ရှိကြကုန်၏။ ထိုအခါမျိုး၌ မွတ်စ်လင်မ်တို့က မက္ကာမြို့သား မုရှ်ရိတ်များနှင့် မဒီနာမြို့ရှိ ယဟူဒီများကို ရင်ဆိုင်ရန်ကိစ္စမှာ မည်သူတဦးတယောက်မျှ တွေးနိုင်ဝံ့မည် မဟုတ်ပေ။ သို့ပင်ဖြစ်လင့်ကစား၊ ကုရ်အာန်ကျမ်းလာ ဗျာဒိတ်တော်အတိုင်း အနည်းငယ်မျှသော မွတ်စ်လင်မ် စစ်သည်တော်များသည် မိမိတို့ထက် စစ်သည်အင်အား ပိုမိုများပြားလှစွာသော ကာဖိရ်၊ မုရှိရိတ် စစ်သည်တော်တို့ကို အပြတ်အသတ် အောင်နိုင်ခဲ့ကြသည်မှာ ရာဇဝင် အထင်အရှားပင် ဖြစ်ပေသည်။

**ဆက်စပ်မှု**

လွန်ခဲ့ပြီးသော ကုရ်အာန်ကျမ်းမြတ် (၃း၁၁)တွင် ကာဖိရ်တို့ စစ်ရေးနိမ့်ကြမည့် အကြောင်း မိန့်ဆိုထားတော်မူ၏။ ယခုလာလတ္တံ့သော မုက္ခပါဠ်တော်(၃း၁၂)တွင်မူ ကာဖိရ်တို့ စစ်ရေးနိမ့် ခဲ့ကြသည့် သာဓကတရပ်ကို မိန့်ဆိုထားတော်မူသည်။

قَدْ كَانَ لَكُمْ آيَةٌ فِي فِئَتَيْنِ الْتَقَتَا ۖ فِئَةٌ تُقَاتِلُ فِي سَبِيلِ اللَّهِ وَأُخْرَىٰ كَافِرَةٌ يَرَوْنَهُم مِّثْلَيْهِمْ رَأْيَ الْعَيْنِ ۚ وَاللَّهُ يُؤَيِّدُ بِنَصْرِهِ مَن يَشَاءُ ۗ إِنَّ فِي ذَٰلِكَ لَعِبْرَةً لِّأُولِي الْأَبْصَارِ ﴿١٣﴾

၁၃။ မချွတ်ဧကန် အသင်တို့ (ဆင်ခြင်ရန်၊ ကိုးကားရန်) အတွက် (ဗဒ်ရ်)စစ်ပွဲတွင် လူနှစ်စုသည် တဘက်နှင့်တဘက် ရင်ဆိုင်ကြသော (အခြင်းအရာ) ၌ သက်သေသာဓကတရပ် ရှိပေသည်။ [၁]

(ယင်းလူနှစ်စုအနက်) တစုသည် (မွတ်စ်လင်မ်များပင်ဖြစ်ကြပေရာ) အလ္လာဟ် အရှင်မြတ်၏ လမ်းတော်၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်လျက် ရှိခဲ့ကြလေသည်။ သို့ရာတွင် နောက်တစုသည် မယုံမကြည်သွေဖည် ငြင်းပယ်လေသော ကာဖိရ်များပင် ဖြစ်ခဲ့ကြ၏။ ယင်းသူတို့သည် မိမိတို့ကိုယ်ကို ထိုမွတ်စ်လင်မ်များထက် နှစ်ဆ ဖြစ်နေသည်ကိုလည်း မျက်ဝါးထင်ထင် တွေ့မြင်ကြလေသည်။

သို့ရာတွင် (အနိုင်အရှုံးသည် အလ္လာဟ် အရှင်မြတ်၏လက်တော်၌သာ ရှိနေပေရာ) အလ္လာဟ် အရှင်မြတ်သည် မိမိနှစ်လိုသောသူများကိုသာ မိမိအကူအညီဖြင့် အားပေး၍ (နိုင်စေ)တော်မူလေသည်။ အမှန်စင်စစ်သော်ကား ယင်း(အခြင်းအရာ)၌ ဉာဏစက္ခု ဉာဏ်အမြော်အမြင် ရှိသူများ အဘို့အရာ (ကြီးကျယ်သော) သင်ခန်းစာသည် အမှန် ရှိပေသတည်း။

---

(၁) ဤမုက္ခပါဌ်တော်သည် ဟိဂျ်ရီသက္ကရာဇ် ၂-ခုနှစ် ရမသွာန်လတွင် မွတ်စ်လင်မ်တို့နှင့် ကာဖိရ်တို့၏ စပ်ကြား၌ ဖြစ်ပွားခဲ့သော ဗဒ်ရ်စစ်ပွဲကို ရည်ညွှန်းသော မုက္ခပါဌ်တော်ဖြစ်သည်။

**ဗဒ်ရ်စစ်ပွဲ**

ထိုစစ်ပွဲတွင် မွတ်စ်လင်မ်တို့သည် လူနည်းစုဖြစ်၍ ကာဖိရ်တို့သည် လူများစုကြီး ဖြစ်၏။ မွတ်စ်လင်မ် စစ်သည်တော်များသည် အရေအတွက်အားဖြင့် ၃၁၃ ယောက်သာရှိ၏။ ဆွဲကိုင်တိုက်ခိုက်ရန် လက်နက် အင်အားသည်လည်း အလွန်တရာမှ ချို့တဲ့လှ၏။ စီးနင်းရန် ကုလားအုဋ်သည် စစ်သည်၄ဦးတွင် ကုလားအုဋ် တကောင်စီသာရှိ၏။ မွတ်စ်လင်မ် စစ်တပ်တခုလုံးတွင် မြင်းသည် ၂-ကောင်သာရှိ၏။ စစ်သည်တော် ၃၁၃ ယောက်အနက် စစ်သည် ၇-ဦးသာလျှင် သံချပ်အင်္ကျီဝတ်ဆင်နိုင်ကြ၏။ ဤကား မွတ်စ်လင်မ် ➤➤

زُيِّنَ لِلنَّاسِ حُبُّ الشَّهَوٰتِ مِنَ النِّسَآءِ وَالْبَنِيْنَ وَالْقَنَاطِيْرِ الْمُقَنْطَرَةِ مِنَ الذَّهَبِ وَالْفِضَّةِ وَالْخَيْلِ الْمُسَوَّمَةِ وَالْاَنْعَامِ وَالْحَرْثِ ؕ

၁၄။ လူခပင်းတို့ အဘို့အရာ၊ မိန်းမများကိုင်၊ သားရတနာ များကိုင်၊ စုဆောင်းသိမ်းထားသော ရွှေငွေ ရတနာများကိုင်၊ သင်ကြား လေ့ကျင့် ရွေးချယ်သတ်မှတ်ထားသော၊ မျိုးမှန် မျိုးကောင်း မြင်းများကိုင်၊ (နွား၊ သိုး၊ ဆိတ်) ကုလားအုန်း စသည့် တိရစ္ဆာန်များကိုင်၊ လယ်ယာဥယျာဥ်များ ကိုင်၊ ချစ်ခင်စုံမက် နှစ်သက်မြတ်နိုး၊ လုပတင့်တယ် ရှုချင်စဖွယ်ရှိအောင် ပြုလုပ်ထားတော်မူသည်။

---

➤➤ စစ်သည်တော်များ၏ အခြေအနေတည်း။

ကာဖိရ် စစ်သည်များမှာ မက္ကာမြို့ရှိ မုရှ်ရစ်က် အုပ်စုကြီး၏ စစ်တပ်ဖြစ်၏။ အရေအတွက် အားဖြင့် ၉၅၀ တိတိရှိ၏။ ထိုစစ်သည်များကို ကုရိုင်ရှိ မြင်းစီးသူရဲများက စီမံ အုပ်ချုပ်လျက်ရှိ၏။ စစ်လက်နက် အပြည့်အစုံပါရှိ၏။ ထိုစစ်သည်များတွင် ကုလားအုန်စီးစစ်သည် ၇၀၀ တိတိပါရှိ၏။ သံချပ်အင်္ကျီ ဝတ်ဆင်သော စစ်သည် ၁၀၀ တိတိပါရှိ၏။

ကျန် စစ်သည်များတွင်လည်း အသီးသီး အစီးအနင်းများ ပါရှိ၍ ကာဖိရ်တို့သည် ဥစ္စာဓန အင်အား နှင့် စားနပ်ရိက္ခာများလည်း ပေါများကြကုန်၏။ ကာဖိရ်စစ်သည်များသည် မိမိတို့ကိုယ်ကို မွတ်စ်လင်မ် စစ်သည်တော်များထက် နှစ်ဆ ပိုများကြောင်းကိုလည်း မျက်ဝါးထင်ထင် တွေ့မြင်နေကြ၏။ ဤကား ကာဖိရ်စစ်သည်များ၏ အခြေအနေတည်း။

တနည်းဆိုသော် ထိုစစ်ပွဲသည် လူနည်းစုနှင့် လူများစု၊ အမှန်နှင့် အမှား၊ အလင်းနှင့် အမှောင်၊ အစ္စလာမ်နှင့် ကုဖ်ရ်၏ စစ်ပွဲပင်တည်း။ ကာဖိရ်စစ်သည်များသည် လက်နက်အင်အား ပြည့်စုံ၍ အဘယ်မျှပင် များပြားကြလင့်ကစား လက်တဆုပ်မျှရှိသော မွတ်စ်လင်မ်စစ်သည်တော်များကို ချေမှုန်းနိုင်ရန် မဆိုထားဘိ၊ ထိုစစ်ပွဲတွင် အထင်နှင့်အမြင် မကိုက်ညီဘဲ မရှုမလှ အရှုံးကြီးရှုံးခဲ့ကြရလေသည်။

ယင်းကဲ့သို့ ဗဒ်ရ်စစ်ပွဲတွင် လက်တဆုပ်မျှလောက်သော မွတ်စ်လင်မ်တို့သည် စစ်သည်အင်အား၊ လက်နက်အင်အား စသည်တို့ဖြင့် အဘက်ဘက်တွင် အင်အားကြီးမားလျက်ရှိသော ကာဖိရ်စစ်သည်များအား အပြတ်အသတ်ချေမှုန်း၍ အောင်ပန်းကို ဆွတ်ခူးနိုင်ခဲ့ကြသည်မှာ အလ္လာဟ်အရှင်မြတ်၏ ကူညီမှိုင်းမတော်မူခြင်း၏ အကျိုးတရားပင်တည်း။

ဤသည့်အချက်ကိုပင် စဉ်းစားဆင်ခြင်ရန်အလို့ငှာ ဗဒ်ရ်စစ်ပွဲတွင် ကာဖိရ် နှင့် မွတ်စ်လင်မ် လူနှစ်စု ရင်ဆိုင်တိုက်ခိုက်ရာတွင် အသင်တို့အဘို့ မုချသက်သေသာဓကေ တရပ်ရှိသည်ဟူ၍ အလ္လာဟ်အရှင်မြတ် မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

'ဗဒ်ရ်'စစ်ပွဲအကြောင်း ကုရ်အာန်ကျမ်းမြတ် (၈း၂-၁၉)၊ (၈း၄၀-၄၇)၊(၈း၆၇-၇၀)တွင်လည်း မိန့်ဆိုထားတော်မူသည်။ ဤစစ်ပွဲအကြောင်းနှင့် စပ်လျဉ်း၍ အကျယ်ကို စီရတွန်နဗီကျမ်း၊ ပဥ္စမတွဲ၊ စာမျက်နှာ (၂၈၂-၃၃၉) တွင်ရှုပါကုန်။

ذٰلِكَ مَتَاعُ الْحَيٰوةِ الدُّنْيَا ۚ وَاللّٰهُ عِنْدَهٗ حُسْنُ الْمَاٰبِ ﴿١٤﴾

ဤသည်တို့ကား ပစ္စုပ္ပန် လောကီဘဝ၏ အသုံးအဆောင် များသာတည်း။ အမှန်စင်စစ်အားဖြင့် အမြင့်မြတ်ဆုံးသော ပြန်လည်ရာ ဌာနသည်ကား အလ္လာဟ် အရှင်မြတ်၏ အထံတော်၌သာလျှင် ရှိပေသတည်း။ ၁

قُلْ اَؤُنَبِّئُكُمْ بِخَيْرٍ مِّنْ ذٰلِكُمْ ۚ لِلَّذِيْنَ اتَّقَوْا عِنْدَ رَبِّهِمْ جَنّٰتٌ تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ

၁၅။ (အို-နဗီတမန်တော်) အသင်သည် (လူသားတို့အား) ပြောကြားပါလေ။ အကျွန်ုပ်သည် အသင်တို့အား ထို (အထက်အဆိုပါ လောကီရတနာစည်းစိမ်များ)ထက် ပိုမိုသင့်မြတ်သောအရာများကို အကြောင်းကြားရပါမည်လော။

---

(၁) ကုရ်အာန်ကျမ်းလာ မုကဒ္ဒပါဠိတော်(၃း၁၃) တွင် လူသားတို့အတို့ ချစ်ခင်စုံမက် နှစ်သက်ဘွယ်ရာများတွင် မိန်းမများ၊ သားသမီးများ၊ ရွှေ၊ ငွေ ရတနာများ၊ မြင်းကောင်းများ၊ တိရစ္ဆာန်များနှင့် လယ်ယာဥယျာဉ်များကိုသာ ဖော်ပြမိန့်ဆိုထားတော်မူသော်လည်း လူသားတို့အတို့ အခြားနှစ်သက်ဘွယ်ရာ အားလုံးတို့သည်လည်း ဤမုကဒ္ဒပါဠိတော်တွင် အကျုံးဝင်လျက် ရှိပေသည်။

လူသားတို့သည် လူ့သဘာဝအလျောက် ချစ်ခင်စုံမက် နှစ်သက်ဘွယ်ရာများဖြစ်သော လူ့လောက အသုံးအဆောင်များကိုကား ချစ်ခင်စုံမက်ကြသည်သာ ဖြစ်ကြ၏။ ထိုထိုသော အသုံးအဆောင်များသည် အချည်းနှီး အလဟဿပစ္စည်းများလည်း မဟုတ်ချေ။ လူသားတို့၌ ထိုအသုံးအဆောင်များကို ချစ်ခင်စုံမက်မှုကို စွန့်လွှတ်ပယ်ရှားရန် တာဝန်လည်း မရှိပေ။ ထိုထိုသော အသုံးအဆောင်များသည် လူ့သက်တမ်းတွင် လူသားတို့အတို့ အကူအညီအထောက်အပံ့ အကျိုးဖြစ်ထွန်းစေနိုင်သော အရာများလည်း ဖြစ်သည်။

သို့ပင်ဖြစ်သော်လည်း ထိုအသုံးအဆောင်များသည် လူ့ဘဝ၏ အထွတ်အထိပ် လိုရာစခန်းကား မဟုတ်ပေ။ ဤပစ္စက္ခလောကကြီးသည် အရိပ်ပမာ သင်္ခါရမျှသာဖြစ်ပေရာ ဤလောကတွင်းရှိ ထိုထို ဤဤ အသုံးအဆောင်များသည်လည်း အဘယ်မှာလျှင် နိစ္စထာဝရဖြစ်နိုင်ပါအံ့နည်း။ အကာအတိ အနှစ်မရှိသော သင်္ခါရမျှသာ ဖြစ်ကြပေသည်။

သို့ဖြစ်၍ လူသားတို့သည် လောကအသုံးအဆောင်များကို တရားဒေသနာတော်နှင့်အညီ နိသမ္မဉာဏ်ဖြင့် စူးစမ်းဆင်ခြင် မော်မြင်ပြီး မယုတ်မလွန် အသုံးပြု၍ အမြဲထာဝရ တည်ရှိနေမည်ဖြစ်သော နောင်တမလွန်ဘဝ၏ ကောင်းစားရေးကိုသာ ရှေးရှုအထူးကြိုးပမ်း အားထုတ်ကြရပေမည်။

ထို့အတွက်ကြောင့်ပင်လျှင် ကုရ်အာန် ကျမ်းမြတ်၌ ထို အသုံးအဆောင်များနှင့် စပ်လျဉ်း၍ "ဤသည်တို့ကား ပစ္စုပ္ပန် လောကီဘဝ၏ အသုံးအဆောင်များသာဖြစ်၏။ အမှန်စင်စစ်အားဖြင့် (အမြဲထာဝရ) ကောင်းမြတ်သော ဌာနသည်ကား အလ္လာဟ်အရှင်မြတ်၏ အထံတော်၌သာလျှင် ရှိပေသည်" ဟု မိန့်ဆိုထားတော်မူခြင်း ဖြစ်ပေသတည်း။

خٰلِدِيْنَ فِيْهَا وَاَزْوَاجٌ مُّطَهَّرَةٌ وَّرِضْوَانٌ مِّنَ اللّٰهِ ؕ وَاللّٰهُ بَصِيْرٌۢ بِالْعِبَادِ ۚ ﴿١٥﴾

(အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညား၍ ဒုစရိုက် မှုတို့ကို) ကြဉ်ရှောင်သော သူတော်စင်များအတွက် ယင်းသူတို့အား မွေးမြူတော်မူသော အရှင်မြတ်အထံတော်၌ ဥယျာဉ်တော်များ ရှိပေသည်။ ထိုဥယျာဉ်တော်များ၏အောက်မှ စမ်းရေချောင်းများသည် (အယဉ်တွေတွေ) စီးဆင်းလျက် ရှိပေသည်။ (ယင်းသူတို့သည်) ထိုဥယျာဉ်တော်များ တွင် အမြဲထာဝရ စံနေကြမည့်သူများပင် ဖြစ်ကြပေသည်။ (ထို့ပြင် ယင်းသူတို့အတွက်) စင်ကြယ်သန့်ရှင်း အပြစ်ကင်းသော ဇနီးများလည်း ရှိကြပေသည်။ ထို့ပြင်တဝ *အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှုလည်း ရှိပေသည်။* [၁] စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည် (မိမိ၏) ကျွန်များ (၏အခြေအနေ အဖြစ်အပျက် အားလုံးတို့ကို) ခွဲခြားသိမြင်တော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

اَلَّذِيْنَ يَقُوْلُوْنَ رَبَّنَاۤ اِنَّنَاۤ اٰمَنَّا فَاغْفِرْ لَنَا ذُنُوْبَنَا وَقِنَا عَذَابَ النَّارِ ۚ ﴿١٦﴾

**၁၆။** *အကြင်သူ(တော်စင်)တို့သည်* [၂] (အလ္လာဟ် အရှင်မြတ်အထံတော်၌) "အို-ကျွန်တော်မျိုးတို့အား မွေးမြူတော်မူသောအရှင်၊ ကျွန်တော်မျိုးတို့သည် မလွဲဧကန် (အရှင်မြတ်ကို) သက်ဝင်ယုံကြည်ကြပါပြီ။ သို့ဖြစ်ပါ၍ အရှင်မြတ်သည် ကျွန်တော်မျိုးတို့၏ ပြစ်မှုဒုစရိုက်တို့ကို ခွင့်လွှတ်တော်မူပါ။ ၎င်းပြင် (နောင်တမလွန်ဘဝတွင်) ကျွန်တော်မျိုးတို့အား ငရဲမီးဘေးမှလည်း ကာကွယ်စောင့်ရှောက်တော်မူပါဟု လျှောက်ထား ပန်ကြားကြလေသည်။

---

(၁) 'ရိသွ်ဝါန်' ဟူသောပုဒ်၏အဓိပ္ပါယ်မှာ လွန်စွာ ကျေနပ်နှစ်သက်တော်မူခြင်းဟူ၍ ဖြစ်သည်။ ကြည့်-ရာဃိဗ်။ ရူဟုလ်မအာနီ။

အလ္လာဟ်အရှင်မြတ်၏ သုခချမ်းသာ ဂုဏ်ကျေးဇူးတော်အပေါင်းတို့တွင် အလ္လာဟ်အရှင်မြတ်၏ ကျေနပ်နှစ်သက်မှုသည် အဓိက အချုပ်ပင်ဖြစ်တော့၏။ ကြည့်-ကုရ်အာန် (၉း၇၂)။

(၂) ကုရ်အာန် ကျမ်းမြတ် (၃း၁၇)တွင် အလ္လာဟ်အရှင်မြတ် အထံတော်၌ ဆုတောင်းပတ္တနာ ပြုသူများ ➢➢

ٱلصَّـٰبِرِينَ وَٱلصَّـٰدِقِينَ وَٱلْقَـٰنِتِينَ وَٱلْمُنفِقِينَ وَٱلْمُسْتَغْفِرِينَ بِٱلْأَسْحَارِ ﴿١٧﴾

**၁၇။** (အပြစ်များမှ ကြဉ်ရှောင်သော ထိုသူတော်စင်များသည်) ခန္တီတရားနှင့် ပြည့်စုံသော သူများငင်း၊ (စိတ်နှလုံး ဖြောင့်မတ်မှန်ကန် ငြိမ်သက်တည်ကြည်သော) သစ္စာဝါဒီများငင်း၊ (အလ္လာဟ် အရှင်မြတ်ရှေ့တော်မှောက်တွင်) ခယ ရိုကျိုး သူများငင်း၊ (အစ္စလာမ်တရားတော်နှင့်အညီ သဒ္ဒါစေတနာထက်သန်စွာ) လှူဒါန်းသုံးစွဲ ပေးကမ်းစွန့်ကြဲသူများငင်း၊ *ညဥ့်၏နောက်ဆုံးယံ အရုဏ်တက်ချိန်များတွင်* [၁] (အလ္လာဟ်အရှင်မြတ်အထံတော်တွင် မိမိတို့အပြစ်များမှ) လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားသူများငင်း၊ ဖြစ်ကြလေသတည်း။

شَهِدَ ٱللَّهُ أَنَّهُۥ لَآ إِلَـٰهَ إِلَّا هُوَ وَٱلْمَلَـٰٓئِكَةُ وَأُو۟لُوا۟ ٱلْعِلْمِ

**၁၈။** *အလ္လာဟ် အရှင်မြတ်သည် မိမိမှတပါး အခြားခဝပ်ကိုးကွယ်ရာ အရှင်မရှိကြောင်း (မိမိ ကိုယ်တော်တိုင်) သက်သေခံတော်မူခဲ့လေပြီ။* [၂]

---

➤➤ အကြောင်းပါရှိ၏။ ထိုသူများကား အခြားမဟုတ်၊ ကုရ်အာန်(၃း၁၅)တွင် ဖော်ပြပါရှိသော "မွတ္တကီ" သူတော်စင်များ ပင်တည်း။

သူတော်စင်များသည် ဆုတောင်းပတ္ထနာပြုရာတွင် 'အီမာန်' စွဲယူယုံကြည်ကြောင်း ဝန်ခံမြွက်ဆို၍ မိမိတို့၏ အပြစ်များကို လွတ်ငြိမ်းချမ်းသာခွင့် ပြုတော်မူပါမည့်အကြောင်း ဆုတောင်းကြလေသည်။ ယင်းသို့ ဆုတောင်းကြခြင်းမှာ အပြစ်များမှ လွတ်ငြိမ်းချမ်းသာခွင့်သည် 'အီမာန်' စွဲယူယုံကြည်ခြင်းအပေါ်၌သာ တည်ရှိ၍ 'အီမာန်' မရှိခဲ့လျှင် ချမ်းသာခွင့် မရရှိနိုင်ခြင်းကြောင့်ပင် ဖြစ်ပေသည်။ ကြည့်-မာရိဖ်။

သူတော်စင်များသည် သီလ၊ သမာဓိ၊ ပညာ၊ ဂုဏ်သိက္ခာနှင့် ပြည့်စုံကြသည့် အားလျော်စွာ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားကြသဖြင့် နောင်တမလွန်ဘဝတွင် ချမ်းသာခွင့်ရရှိရေးနှင့် ထာဝစဥ် ကောင်းစားရေးကိုသာ အထူးတလည် ဆုတောင်းပတ္တနာ ပြုကြလေသည်။

(၁) သူတော်စင်များသည် ညဥ့်၏ နောက်ဆုံးယံများတွင် အလ္လာဟ်အရှင်မြတ် အထံတော်၌ အထူးသဖြင့် ဆုတောင်း ပတ္တနာပြုကြလေသည်။ အကြောင်းကား ညဥ့်၏နောက်ဆုံးယံများတွင် အသွားအလာ အလှုပ်နည်းပါးလှသဖြင့် အထူးပင် တိတ်ဆိတ်ငြိမ်သက်၏။ ယေဘုယျအားဖြင့် လူသာမန်တို့သည် အိပ်စက်လျက် ရှိကြကုန်၏။ ထိုအချိန်များတွင် အိပ်ရာမှ နိုးကြားရန်ပင် မလွယ်ကူပေ။ ထိုအချိန်များတွင် စိတ်ဓါတ်များသည် အထူးပင် ကြည်လင်၏။ ရွှင်လန်း၏။ သဒ္ဓါစိတ် ပိုမိုထက်သန်၏။ ယင်းသို့သော အချိန်များတွင် သဒ္ဓါတရားထက်သန်စွာဖြင့် ဆုတောင်းပတ္တနာပြုခြင်းသည် ပိုမိုစူးရှကြောင်း၊ ဆုတောင်း ➤➤

قَآئِمًا بِالْقِسْطِ ۚ لَآ إِلٰهَ إِلَّا هُوَ الْعَزِيْزُ الْحَكِيْمُ ﴿١٨﴾

ထိုနည်းတူစွာ၊ "မလာအိကဟ်" ကောင်းကင်တမန်များနှင့် ပညာရှင် သုခမိန် အပေါင်းတို့သည်လည်း (မိမိတို့၏ အကျင့်အမူများဖြင့် သက်သေခံခဲ့ကြလေပြီ။) *ထိုအရှင်မြတ်သည် တရားမျှတစွာ စီမံအုပ်ချုပ်လျက်ရှိတော်မူ၏။* [၁]

---

➤➤ ပြည့်ကြောင်း 'ဟဒီဆ်'ကျမ်းကြီးများတွင် လာရှိပေသည်။

(၂) "အလ္လာဟ်အရှင်မြတ် မှတပါး ခဝပ်ကိုးကွယ်ရာ အလျင်းမရှိကြောင်းကို အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင် သက်သေခံတော် မူခဲ့လေပြီ" ဟူသော မုကၡပါဌ်တော်၏ အနက်သဘောမှာ ထိုအရှင်မြတ်သည် အတိတ်ခေတ် ကောင်းကင်ကျ ကျမ်းဂန်များတွင်၎င်း၊ ကမ္ဘာအဝှန်း၌ ရှိရှိသမျှသော အရာရာတိုင်းတွင်၎င်း၊ ထိုအရှင်မြတ် တဆူတည်း ရှိတော်မူသည့်အကြောင်း ညွှန်ပြလျက်ရှိသော သဘာဝဓမ္မ သက်သေလက္ခဏာများကို စီရင်ဖန်တီးထားတော်မူခြင်းကို ဆိုလိုသည်။

အရာရာတိုင်း၌ ထိုအရှင်မြတ်အား ညွှန်ပြလျက်ရှိသော အမှတ်အသားရှိ၏။ ထိုအမှတ်အသားသည် ထိုအရှင်မြတ်တဆူတည်း ဖြစ်တော်မူကြောင်းကို ညွှန်ပြလျက်ရှိ၏။

ဤအကြောင်းကိုပင် ကုရ်အာန်ကျမ်းမြတ်(၄၁း၅၃)တွင် အတည့်အလင်း မိန့်ဆိုထားတော်မူသည်။

'မလာအိကဟ်' ကောင်းကင်စေတမန်များက သက်သေခံကြသည်ဆိုသည်မှာ ထိုစေတမန်များသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို တသဝေမတိမ်း လိုက်နာဆောင်ရွက်ခြင်းကို ဆိုသည်။ ကောင်းကင်စေတမန်များသည် အမိန့်တော်များကို နာခံကြသည့်အကြောင်း ကုရ်အာန်ကျမ်းမြတ် (၇၉း၁-၅)တွင်ရှုပါ။

ပညာရှင် သုခမိန်တို့က သက်သေခံကြသည် ဆိုသည်မှာ အလ္လာဟ်အရှင်မြတ် စီရင်ဖန်ဆင်းထားတော်မူသည့် အံ့ချီးမဆုံးသော ကမ္ဘာ့တန်ဆာပလာများကို ထိုပညာရှင်တို့သည် မိမိတို့၏ ဉာဏ်အမြော်အမြင်နှင့် စူးစမ်းဆင်ခြင် သိမြင်ကြပြီး ဟောပြောချက်များဖြင့်တမျိုး၊ ရေးသားချက်များဖြင့်တဖုံ၊ နည်းမျိုးစုံဖြင့် ထုတ်ဖော်ဝန်ခံခြင်းကို ဆိုလိုသည်။ ကြည့်-(ရာဃိဗ်)။

တဆူတည်း ဖြစ်တော်မူသော အလ္လာဟ် အရှင်မြတ်၏အကြောင်း ကောင်းကင်ကျ ဓမ္မကျွန်အစောင်စောင်တွင် ပါရှိ၏။ ဤကား ကျမ်းဂန်များဖြင့် သိရသောအချက်ဖြစ်၏။ ထိုအရှင်မြတ် တပါးတည်းဖြစ်တော်မူသည့်အကြောင်းကို ကမ္ဘာ့တန်ဆာပလာများကလည်း သက်သေခံလျက်ရှိ၏။ ဤကား ဉာဏ်စွမ်းဖြင့် သိနိုင်သောအချက်ဖြစ်၏။ ကြည့်-(မာဂျိဒီ)။

(၁) တရားမျှတစွာ စီမံခန့်ခွဲနိုင်ရန် ဂုဏ်ထူးနှစ်ရပ် အထူးလိုအပ်ပေသည်။ (၁) တန်ခိုးအာဏာရှိခြင်း၊ (၂) အသိအလိမ္မာ ဉာဏ်ပညာနှင့် ပြည့်စုံခြင်း၊ ထိုဂုဏ်ထူးနှစ်ရပ်နှင့် မပြည့်စုံပါလျှင် တရားမျှတစွာ စီမံခန့်ခွဲရန် ခဲယဉ်းပေလိမ့်မည်။

အလ္လာဟ်အရှင်မြတ်သည် ထိုဂုဏ်ထူးနှစ်ရပ်လုံးနှင့် လုံးဝပြည့်စုံတော်မူသည့်အတွက် မိမိ သဗ္ဗညုတဉာဏ်တော်ဖြင့် ကျိုးကြောင်းဆင်ခြင်တော်မူ၍ မိမိ၏ အနန္တတန်ခိုးတော်ဖြင့် နိုင်နင်းလွှမ်းမိုးတော်မူပြီး ကမ္ဘာ့အဝှန်းကို တရားမျှတစွာ စီမံခန့်ခွဲ ကွပ်ကဲအုပ်ချုပ်လျက် ရှိတော်မူပေသတည်း။

ထိုအရှင်မြတ် သည်သာလျှင် ခဝပ်ကိုးကွယ်ရာ အရှင်ဖြစ်တော်မူ၍ ထိုအရှင်မြတ်မှတပါး ခဝပ်ကိုးကွယ်ရာ အရှင်ဟူ၍ အလျှင်းမရှိပြီ။ (ထိုအရှင်မြတ်သည်) တန်ခိုးအာနုဘော်ဖြင့် လွှမ်းမိုးတော်မူသောအရှင်၊ အကျိုးအကြောင်း ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်မြတ်ပင်တည်း။

إِنَّ الدِّينَ عِندَ اللَّهِ الْإِسْلَامُ ۗ وَمَا اخْتَلَفَ الَّذِينَ أُوتُوا الْكِتَابَ إِلَّا مِن بَعْدِ مَا جَاءَهُمُ الْعِلْمُ بَغْيًا بَيْنَهُمْ ۗ وَمَن يَكْفُرْ بِآيَاتِ اللَّهِ فَإِنَّ اللَّهَ سَرِيعُ الْحِسَابِ ⑲

**၁၉။** မချွတ်ဧကန် အလ္လာဟ်အရှင်မြတ်အထံတော်၌ (နှစ်မြို့တော်မူပြီးဖြစ်သော) "ဒီန်" သာသနာမှာမူကား *အစ္စလာမ် သာသနာတော်ပင်တည်း။* [၁]

အမှန်သော်ကား ("တော်ရာတ်"နှင့်"အင်န်ဂျီလ်") ကျမ်းများ ပေးသနားတော်မူခြင်းခံကြရသော သူတို့သည် မိမိတို့ထံ အသိတရား ရောက်ရှိပြီးနောက် သော်မှပင် မိမိတို့အချင်းချင်း မနာလို ဝန်တိုစိတ်ထား ရှိခြင်းကြောင့် မညီမညွတ် သဘောကွဲလွဲကြကုန်၏။

သို့ရာတွင် မည်သူမဆို အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို သွေဖည်ငြင်းပယ်ပါမူ မုချဧကန် အလ္လာဟ် အရှင်မြတ်သည် လျင်မြန်စွာ စစ်ဆေးစာကြောတော် မူမည့် အရှင်မြတ်ပင် ဖြစ်တော်မူသတည်း။

---

(၁) 'အစ္စလာမ်' ဟူသော ပုဒ်၏ အဓိပ္ပါယ်မှာ အမိန့်နာခံခြင်း၊ အပ်နှင်းခြင်းဟူ၍ဖြစ်သည်။ အစ္စလာမ်သာသနာဝင် 'မွတ်စ်လင်မ်' တဦးအား မွတ်စ်လင်မ်ဟူ၍ ခေါ်ဆိုခြင်းမှာ မွတ်စ်လင်မ်သည် အလ္လာဟ်အရှင်မြတ်အား မိမိကိုယ်ကို အပ်နှင်း၍ ထိုအရှင်မြတ်၏ အမိန့်တော်မှန်သမျှကို ဦးလည်မသုံ တသဝေမတိမ်း လိုက်နာကျင့်မူသည့်အတွက်ပင်ဖြစ်သည်။

အလ္လာဟ်အရှင်မြတ် နှစ်မြို့တော်မူသော သာသနာသည် 'အစ္စလာမ်' သာသနာပင်ဖြစ်သည်။ ကမ္ဘာလောကတွင် ပွင့်လေသမျှသော နဗီတမန်တော် အားလုံးတို့သည်လည်း အစ္စလာမ်သာသနာကိုပင် အသီးသီး ဟောကြားတော်မူခဲ့ကြကုန်၏။ အလ္လာဟ်အရှင်မြတ်သည် အစ္စလာမ်သာသနာမှအပ အခြားမည်သည့် သာသနာကိုမျှ လက်ခံတော်မူမည် မဟုတ်ပေ။ ကြည့်-ကုရ်အာန် (၃:၈၄)။

فَإِنْ حَاجُّوكَ فَقُلْ أَسْلَمْتُ
وَجْهِيَ لِلَّهِ وَمَنِ اتَّبَعَنِ ۗ
وَقُلْ لِلَّذِينَ أُوتُوا الْكِتَابَ
وَالْأُمِّيِّينَ أَأَسْلَمْتُمْ ۚ فَإِنْ
أَسْلَمُوا فَقَدِ اهْتَدَوْا ۖ وَإِنْ
تَوَلَّوْا فَإِنَّمَا عَلَيْكَ الْبَلَاغُ ۗ
وَاللَّهُ بَصِيرٌ بِالْعِبَادِ ﴿٢٠﴾

၂၀။ (အစ္စလာမ် သာသနာတော်သည် မှန်ကန်သောသာသနာဖြစ်၍ အလ္လာဟ်အရှင်မြတ် သဘောတူ နှစ်ခြိုက်တော်မူသော သာသနာဖြစ်ကြောင်း ထင်ရှားပြီး ဖြစ်ပါလျက်နှင့်ပင်) တဖန် ယင်းသူတို့သည် အသင်နှင့် အချေအတင် ပြောဆိုငြင်းခုံကြပါမူ အသင်က (ယင်းသူတို့အား) (ဟယ်အချင်းတို့) အကျွန်ုပ်သည် မိမိမျက်နှာကို အလ္လာဟ်အရှင်မြတ် (အမိန့်တော်ကို နာခံခြင်းအားဖြင့် ထိုအရှင်မြတ်) ဘက်သို့သာလျှင် လှည့်ပြီးဖြစ်ချေပြီ။ ထိုနည်းတူစွာ အကျွန်ုပ်၏ နောက်လိုက်များသည်လည်း (မိမိတို့၏ မျက်နှာများကို အရှင်မြတ်ဘက်သို့သာလျှင် လှည့်ကြချေပြီ) ဟု ပြောကြားပါလေ။

ထိုမှ တပါးတုံ အသင်သည် ကျမ်းဂန် (တော်ရာတ်နှင့်အင်န်ဂျီလ်)ကို ရရှိပြီးဖြစ်သောသူတို့ကိုင်း၊ *စာပေမတတ် အသိပညာကင်းမဲ့သော* [၁] (အရဗ်မုရှ်ရိတ်) တို့ကိုင်း၊ (ဟယ်-အချင်းတို့) အသင်တို့သည် (အလ္လာဟ်အရှင်မြတ်၏) အမိန့်တော်ကို နာခံသော မွတ်စ်လင်မ်များ ဖြစ်ကြပါသလောဟု မေးမြန်းပါလေ။

တဖန် အကယ်၍သာ ယင်းသူတို့သည် အမိန့်တော်ကိုနာခံသော မွတ်စ်လင်မ်များဖြစ်ကြပါလျှင် ယင်းသူတို့သည်လည်း တရားလမ်းမှန်ကို ရရှိကြလတ္တံ့။

(၁) 'အွမ်မိယီန" ဟူသော စကားသည် 'အွမ်မိယွန်' ဟူသော စကား၏ ဗဟုဝုစ်ကိန်းဖြစ်သည်။ 'အွမ်မိယွန်' ဟူသော စကား၏ အနက်အဓိပ္ပါယ်မှာ စာမရေးတတ် မဘတ်တတ်သူဟူ၍ဖြစ်သည် ဤမုကွပါဠ်တော်တွင် ပါရှိသော စာမရေးတတ် မဘတ်တတ်သောသူများမှာ အရဗ်မုရှ်ရိက်များကိုဆိုသည်။ ကြည့်-(မာဂျိဒီ)။

သို့ရာတွင် အကယ်၍ ယင်းသူတို့သည် (အစ္စလာမ် သာသနာကို) မျက်နှာလွှဲရှောင်ကျောခိုင်း၍ သွားကြပါလျှင် အသင့်အပေါ်ဝယ် (အလ္လာဟ်အရှင်မြတ်၏) အမိန့်ဗျာဒိတ်တော်များကို ဟောကြားပို့ဆောင်ရုံမျှသာ တာဝန်ရှိပေသည်။ အကြောင်းသော်ကား အလ္လာဟ် အရှင်မြတ်သည် (မိမိ)၏ကျွန်များကို ခွဲခြား၍သိမြင် တော်မူသောအရှင်မြတ် ဖြစ်တော်မူပေသတည်း။

إِنَّ الَّذِينَ يَكْفُرُونَ بِآيَاتِ اللَّهِ وَيَقْتُلُونَ النَّبِيِّينَ بِغَيْرِ حَقٍّ وَيَقْتُلُونَ الَّذِينَ يَأْمُرُونَ بِالْقِسْطِ مِنَ النَّاسِ فَبَشِّرْهُم بِعَذَابٍ أَلِيمٍ ٢١

၂၁။ ဧကန်စင်စစ် အကြင်သူတို့သည် အလ္လာဟ် အရှင်မြတ်၏ တရားဒေသနာတော်များကို မနာယူ ငြင်းဆန်ပယ်ရှားကြကုန်၏။ ထို့ပြင်တဝ ယင်းသူတို့ သည် နဗီတမန်တော်များကို သတ်ဖြတ်ခွင့်မရှိဘဲလျက် (တရားမဲ့)သတ်ဖြတ်ကြကုန်၏။ ထိုနည်းတူစွာ ယင်း သူတို့သည် လူသားတို့အနက်မှ တရားမျှတစွာပြုလုပ် ရန် ညွှန်ကြားသူတို့ကိုလည်း သတ်ဖြတ်ကြကုန်၏။ သို့ဖြစ်ပေရာ အသင်သည် ယင်းကဲ့သို့သော သူတို့ အား အလွန်နာကျင်ဖွယ်ဖြစ်သော အပြစ်ဒဏ်(ခံကြ ရမည့်အကြောင်း) သတင်းကောင်း ကျေညာပါလေ။

أُولَٰئِكَ الَّذِينَ حَبِطَتْ أَعْمَالُهُمْ فِي الدُّنْيَا وَالْآخِرَةِ وَمَا لَهُم مِّن نَّاصِرِينَ ٢٢

၂၂။ ဤသူများသည် အကြင်သူများပင်တည်း။ ယင်းသူတို့ ဆည်းပူးခဲ့သမျှသော (ကောင်းမှု)တို့သည် ဤပစ္စုပ္ပန်ဘဝ၌၎င်း၊ နောင်တမလွန်ဘဝ၌၎င်း၊ *အချည်းနှီး အကျိုးမဲ့ဖြစ်ချေပြီ။* [၁] ထို့ပြင်တဝ ယင်းသူတို့ကို (အလ္လာဟ်အရှင်မြတ်၏) အပြစ်ဒဏ် တော်မှလွတ်မြောက်စေရန် ကယ်ဆယ်စောင်မမည့်သူ ဟူ၍လည်း တဦးတယောက်မျှ ရှိမည်မဟုတ်ချေ။

---

(၁) အလ္လာဟ်အရှင်မြတ်၏ တရားဒေသနာတော်များကို သွေဖည်ငြင်းဆန်၍ နဗီတမန်တော်များနှင့် တရားသဖြင့် သွန်သင်ဆုံးမသြဝါဒပေးသော သူတော်စင်များအား လုပ်ကြံသတ်ဖြတ်သော သူများသည် နှစ်ဘဝလုံးတွင် အရှုံးကြီး ရှုံးရကြမည်သာတည်း။

اَلَمۡ تَرَ اِلَى الَّذِيۡنَ اُوۡتُوۡا نَصِيۡبًا مِّنَ الۡكِتٰبِ يُدۡعَوۡنَ اِلٰى كِتٰبِ اللّٰهِ لِيَحۡكُمَ بَيۡنَهُمۡ ثُمَّ يَتَوَلّٰى فَرِيۡقٌ مِّنۡهُمۡ وَهُمۡ مُّعۡرِضُوۡنَ ﴿٢٣﴾

၂၃။ (အို-နဗီ) ကျမ်းဂန်များအနက်မှ တစိတ်တဒေသ ချီးမြှင့်ခြင်းခံရသော အကြင်သူတို့(၏ အဖြစ်)ကို အသင်စဉ်းစားဆင်ခြင် မမြင်မိပါသလော၊ ထိုသူတို့သည် ၎င်းတို့၏စပ်ကြားဝယ် အချင်းချင်း (အငြင်းပွားလျက်ရှိသောပြဿနာကို) စီရင်ဆုံးဖြတ်ပေးရန်အလို့ငှာ *အလ္လာဟ်အရှင်မြတ်၏ကျမ်းဂန် (၏အဆုံးအဖြတ်)ကို ခံယူကြရန် ဘိတ်ခေါ်ခြင်းခံကြရလေသည်။* [၁] (သို့ ဘိတ်ခေါ်ခြင်းခံကြရသည့်) နောက်တွင် ယင်းသူတို့အနက် (အကြီးအကဲဖြစ်သော) လူတစုသည် သွေဖည်ကျောခိုင်း၍ သွားကြလေသည်။ အမှန်သော်ကား ထိုသူများသည် (အမြဲတစေ) မျက်နှာလွှဲဖယ်သူများပင် ဖြစ်ကြကုန်သတည်း။

---

(၁) **ထုတ်ပြန်ပို့ချတော်မူသည့်အကြောင်း**

နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် တနေ့သော် ယဟူဒီဘာသာဝင်များ၏ ဘုန်းကြီးကျောင်းသို့ ကြွသွားတော်မူ၍ တဆူတည်းဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ရန် တရားဓမ္မဟောကြားတော်မူလေသည်။ ထိုအခါ ယဟူဒီဘာသာဝင်များ အနက်မှ နအီမ်အီဗ်နုအမ်ရ်နှင့် အလ်ဟာရစ်ဆ် အီဗ်နုဇိုက်ဒ်က တမန်တော်မြတ်အား "အို-မုဟမ္မဒ်၊ အသင်သည် မည်သည့် သာသနာဝင်ဖြစ်ပါသနည်း" ဟု မေးမြန်းကြရာ တမန်တော်မြတ်က "ငါသည်တမန်တော်မြတ် အီဗ်ရာဟီမ်သခင်၏ သာသနာဝင်ဖြစ်သည်" ဟု ပြန်လည်ဖြေကြားတော်မူ၏။ တဖန် ထိုသူနှစ်ဦး (နအီမ်နှင့် အလ်ဟာရစ်ဆ်)က "တမန်တော်မြတ် အီဗ်ရာဟီမ်သည် ယဟူဒီ ဖြစ်ပါသည်" ဟုပြောကြရာ တမန်တော်မြတ်က တောင်ရာတ်ကျမ်းသည် ငါတို့ထံ၌၎င်း၊ အသင်တို့ထံ၌၎င်း ရှိ၏။ သို့ဖြစ်ပေရာ ဤအကြောင်းနှင့်စပ်လျဉ်း၍ တောင်ရာတ်ကိုပင် ကြည့်ကြစို့" ဟု ပြောကြားတော်မူရာ ထိုသူ ၂-ဦးသည် သွေဖည်ငြင်းဆိုသွားကြလေသည်။

**ဖော်ပြချက်**

အချို့ယဟူဒီဘာသာဝင်များသည် မိမိတို့တွင် ဖြစ်ပွားသော ပြဿနာများနှင့် စပ်လျဉ်း၍ အစ္စလာမ် ဓမ္မသတ်တွင် သက်သာချောင်ချိမှုကို ရရှိလိမ့်မည်ဟု မျှော်မှန်းကြသောအခါ တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လာမ်)ထံ အဆုံးအဖြတ်ခံယူရန် ချဉ်းကပ်ကြလေသည်။ တမန်တော်မြတ်၏ အဆုံးအဖြတ်သည် မိမိတို့အကြိုက်နှင့် ညီလျှင် လက်ခံကြ၍ မိမိတို့အကြိုက်နှင့် မညီသောအခါ၌မူကား သွေဖည်ငြင်းဆန်ကြလေသည်။

ဥပမာ တနေ့သောအခါ ယဟူဒီဘာသာဝင်များအနက် ဂုဏ်သရေရှိသူများတွင် ကာမေသုမိစ္ဆာစာရကံ ကျူးလွန်မှုတခု ဖြစ်ပေါ်လာခဲ့၏။ ထိုအခါ ယင်းသူတို့သည် ထိုအမှုနှင့်စပ်လျဉ်း၍ အစ္စလာမ်ဓမ္မသတ်တွင် သက်သာချောင်ချိမှု ရရှိလိမ့်မည်ဟု မျှော်မှန်းကာ တမန်တော်မြတ်ထံ အဆုံးအဖြတ်ခံယူရန် လာကြလေ၏။ တမန်တော်မြတ်သည် ထိုအမှုနှင့်စပ်လျဉ်း၍ ယဟူဒီဘာသာဝင်တို့၏တောင်ရာတ်ကျမ်းလာဆုံးဖြတ်ချက် ➤➤

ذٰلِكَ بِأَنَّهُمْ قَالُوا لَنْ تَمَسَّنَا النَّارُ إِلَّآ أَيَّامًا مَّعْدُودَٰتٍ ۖ وَغَرَّهُمْ فِى دِينِهِم مَّا كَانُوا۟ يَفْتَرُونَ ﴿٢٤﴾

၂၄။ ဤ(ကဲ့သို့ တရားဒေသနာတော်များကို သွေဖည် ကျောခိုင်းဝံ့ခြင်းအကြောင်း)မှာကား ထိုသူတို့က ငရဲမီးသည် ငါတို့အား ရေတွက်ထားသော နေ့ရက် (အနည်းငယ်)မှအပ အလျင်းထိရောက်မည်မဟုတ် ဟု (ယုံကြည်) ပြောဆိုနေခြင်း ကြောင့်ပင်တည်း။ စင်စစ်သော်ကား ၎င်းတို့အား ၎င်းတို့၏သာသနာရေးနှင့် စပ်လျဉ်း၍ ၎င်းတို့ကိုယ်တိုင် လီဆယ်လုပ်ကြံဖန်တီးထားသော အချက်များကပင် လှည့်ပတ်ဖြားယောင်းထားလေသည်။

فَكَيْفَ إِذَا جَمَعْنَٰهُمْ لِيَوْمٍ لَّا رَيْبَ فِيهِ وَوُفِّيَتْ كُلُّ نَفْسٍ مَّا كَسَبَتْ وَهُمْ لَا يُظْلَمُونَ ﴿٢٥﴾

၂၅။ သို့ရာတွင် “ကိယာမတ်” ရှင်ပြန်ထမည့်နေ့တွင် ငါအရှင်မြတ်သည် ထိုသူတို့အား စုရုံးစေတော်မူသည့်အခါ (ထိုသူတို့၏အဖြစ်သည်) မည်သို့ဖြစ်အံ့နည်း။ ထိုရှင်ပြန်ထမည့်နေ့နှင့် စပ်လျဉ်း၍ ဒွိဟသံသယ အလျင်းမရှိ။ (ထိုနေ့သည်ကား မုချဆိုက်ရောက်မည် ဖြစ်သည်။) ထို့ပြင် (ထိုနေ့တွင်) လူတိုင်းလူတိုင်းသည် မိမိတို့ ပြုလုပ်ဆည်းပူးခဲ့သော (ကောင်းမှု၊ မကောင်းမှုတို့၏အကျိုးအပြစ်ကို) အပြည့်အစုံပေးခြင်း ခံကြရလတ္တံ့။ ထိုသူတို့သည် (အကျိုးအပြစ်ပေးခြင်းခံကြရာ၌) မတရားပြုလုပ်ခြင်းကို အလျင်း ခံကြရမည်လည်းမဟုတ်ချေ။

---

➤➤ အတိုင်းပင် အဆုံးအဖြတ်ပေးတော်မူခဲ့လေသည်။ ထိုအခါ ယင်းသူတို့သည် မိမိတို့၏ကျမ်းချက်နှင့် ကိုက်ညီသော အဆုံးအဖြတ်ကိုပင်လျှင် မိမိတို့အကြိုက်မဖြစ်သဖြင့် သွေဖည်ငြင်းဆိုကြလေသတည်း။ ကြည့်- အလ်မနာရ်။

ဤမုကဒ္ဒပါဠ်တော်တွင်ပါရှိသော *'အလ္လာဟ်အရှင်မြတ်၏ကျမ်းဂန်'* ဟူသည် ကုရ်အာန်ကျမ်းကိုလည်း ဆိုနိုင်၏။ အဘယ့်ကြောင့်ဟူမူ ကုရ်အာန်ကျမ်းကို ထုတ်ပြန်ပို့ချတော်မူမည့်အကြောင်း တောင်ရာတ်၊ အင်န်ဂျီလ်ကျမ်းများတွင် ဗျာဒိတ်တော်များပါရှိပြီး ဖြစ်သဖြင့် ကုရ်အာန်ကျမ်းမြတ်ကို လိုက်နာရန် ဘိတ်ခေါ်ခြင်းသည်ပင် တနည်းဆိုသော် တောင်ရာတ်၊ အင်န်ဂျီလ်ကျမ်းများကိုလိုက်နာရန် ဘိတ်ခေါ်ရာရောက်ခြင်းကြောင့်တည်း။ သို့တည်းမဟုတ် ဤမုကဒ္ဒပါဠ်တော်တွင်ပါရှိသော 'အလ္လာဟ်အရှင်မြတ်၏ကျမ်းဂန်'ဟူသည် တောင်ရာတ်၊ အင်န်ဂျီလ်ကျမ်းများကိုပင် ရည်ညွှန်းသည်ဟုဆိုပါကလည်း မှားယွင်းနိုင်ရန်အကြောင်းမရှိပေ။

قُلِ اللّٰهُمَّ مٰلِكَ الْمُلْكِ تُؤْتِى الْمُلْكَ مَنْ تَشَآءُ وَتَنْزِعُ الْمُلْكَ مِمَّنْ تَشَآءُ ۡوَتُعِزُّ مَنْ تَشَآءُ وَتُذِلُّ مَنْ تَشَآءُ ؕ بِيَدِكَ الْخَيْرُ ؕ اِنَّكَ عَلٰى كُلِّ شَىْءٍ قَدِيْرٌ ﴿٢٦﴾

၂၆။ (အို-နဗီ)အသင်သည် (အလ္လာဟ်အရှင်မြတ် အထံတော်၌ ဤသို့) လျှောက်ထားပန်ကြားပါလေ။ အာဏာတန်ခိုး အမျိုးမျိုးကို စိုးပိုင်တော်မူသော အို- အလ္လာဟ် အရှင်မြတ်၊ အရှင်မြတ်သည် မိမိနှစ်လို တော်မူသောသူအား တန်ခိုးအာဏာကို ပေးသနား တော်မူ၏။ ထို့နည်းတူစွာ အရှင်မြတ်သည် မိမိ အလိုရှိတော်မူသော သူ၏ထံမှ ဩဇာအာဏာကို ပြန်လည်ရုပ်သိမ်းတော်မူ၏။ ထို့နည်းပမာ အရှင် မြတ်သည် မိမိနှစ်လိုတော်မူသောသူကို ဂုဏ်အင်ဒြပ် ချီးမြှင့်တော် မူ၏။ ထို့နည်းအတိုင်းပင် အရှင်မြတ် သည် မိမိအလိုရှိတော်မူသောသူကို ဂုဏ်အင်ဒြပ် နှိမ့်ချယုတ်လျော့စေတော်မူ၏။

ကောင်းမြတ်ခြင်း အဖြာဖြာတို့သည် အရှင် မြတ်၏ လက်တော်၌သာလျှင် ရှိ၏။ မုချဧကန် ကိုယ်တော် အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသော အရှင်မြတ်ပင်တည်း။

تُوْلِجُ الَّيْلَ فِى النَّهَارِ وَتُوْلِجُ النَّهَارَ فِى الَّيْلِ ۡوَتُخْرِجُ الْحَىَّ مِنَ الْمَيِّتِ وَتُخْرِجُ الْمَيِّتَ

၂၇။ အရှင်မြတ်သည် (အချို့ ဥတုရာသီ၌) ညဉ့်(၏အစိတ်အပိုင်း)ကို နေ့၏အတွင်း၌ထည့်သွင်း တော်မူလေသည်။ [၁] ထို့နည်းတူစွာ (အချို့ရာသီဥတု၌) နေ့(၏အစိတ်အပိုင်း)ကို ညဉ့်၏အတွင်း၌ ထည့်သွင်း တော်မူလေသည်။

---

(၁) ကမ္ဘာ့တန်ဆာပလာများသည် စံနစ်တကျ ပြောင်းလဲလျက်ရှိကြ၏။ ဥပမာ နေ၊ လ၊ နက္ခတ် ....... အစရှိသည့် ဂြိုလ်များသွားလာခြင်း၊နေ့၊ညဉ့်ပြောင်းလဲခြင်း၊ နေ့တာ၊ ညဉ့်တာရှည်ခြင်း၊ တိုခြင်း၊ ဥတုရာသီပြောင်းလဲခြင်း လေတိုက်ခြင်း၊ မိုးရွာခြင်း၊ ဒီရေအတက်အကျရှိခြင်း ... အစရှိသည်တို့ဖြင့် ကမ္ဘာ့အဝှန်းတွင် ဖြစ်ပေါ်လျက်ရှိသော ပြောင်းလဲမှုအားလုံးတို့သည် အလ္လာဟ်အရှင်မြတ်၏ အလိုတော်အတိုင်း သာလျှင် ဖြစ်ချေသည်။

နေ့ကို ညဉ့်အတွင်း၌ရင်း၊ ညဉ့်ကို နေ့အတွင်း၌ရင်း၊ ထည့်သွင်းတော် မူခြင်း၏ သဘောမှာ နေ့၏အစိတ်အပိုင်းကိုညဉ့်အတွင်းသို့ရင်း၊ ညဉ့်၏အစိတ်အပိုင်းကိုနေ့အတွင်းသို့ရင်း၊ ထည့်သွင်းတော်မူ၍ ➤➤

مِنَ الْحَيِّ وَتَرْزُقُ مَنْ تَشَاءُ
بِغَيْرِ حِسَابٍ ﴿٢٧﴾

ထို့ပြင် အရှင်မြတ်သည် သက်မဲ့မှ သက်ရှိကို ထုတ်တော်မူ၏။ ထိုနည်းပမာ သက်ရှိမှ သက်မဲ့ကို ထုတ်တော်မူ၏။ ထိုမှတပါးတုံ အရှင်မြတ်သည် မိမိ နှစ်လိုတော်မူသောသူအား အသချေ်အသချာ အရေ အတွက်မရှိ ရိက္ခာပေးသနားတော်မူ၏။

لَا يَتَّخِذِ الْمُؤْمِنُونَ
الْكَافِرِينَ أَوْلِيَاءَ مِنْ دُونِ
الْمُؤْمِنِينَ ۖ وَمَنْ يَفْعَلْ
ذَٰلِكَ فَلَيْسَ مِنَ اللَّهِ فِي
شَيْءٍ إِلَّا أَنْ تَتَّقُوا مِنْهُمْ
تُقَاةً ۗ وَيُحَذِّرُكُمُ اللَّهُ
نَفْسَهُ ۗ وَإِلَى اللَّهِ
الْمَصِيرُ ﴿٢٨﴾

**၂၈။** ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိကြကုန်သော မုအ်မင်န်တို့သည် မုအ်မင်န်များကို ပစ်ပယ် ကျော်လွန်၍ (အလ္လာဟ်အရှင်မြတ်အား) သွေဖည် ငြင်းပယ်ကြကုန်သော ကာဖိရ်တို့ကို အဆွေခင်ပွန်း များအဖြစ် မပြုအပ်ကြပေ။ အကြင် မည်သူမဆို ယင်းသို့ပြုအံ့၊ ထိုသူသည် အလ္လာဟ်အရှင်မြတ်နှင့် စပ်လျဉ်း၍ အဘယ်တစုံတခုနှင့်မျှ မပတ်သက်တော့ ချေ။ သို့ရာတွင် အသင်တို့သည် ထို(ကာဖိရ်)တို့၏ ဘေးရန်မှ စိုးရိမ် ကြောင့်ကြ(၍ မိမိတို့ကိုယ်ကို ကာကွယ်လိုကြသောအခါ၌မူ အခြေအနေအရ ပြုလုပ် နိုင်ကြ) ပေသည်။

အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် မိမိအားကြောက်ရွံ့ရန် အသင်တို့ကို ခြိမ်းခြောက်တော် မူသည်။ ထို့ပြင် နောက်ဆုံး ပြန်လည်ရန် ဌာန သည် အလ္လာဟ်အရှင်မြတ် အထံတော်၌သာလျှင် ဖြစ်ပေသတည်း။

---

➤➤ ဥတုရာသီအလိုက် နေ့တာ ညဉ့်တာ အတိုအရှည်ဖြစ်အောင် အလ္လာဟ်အရှင်မြတ် ဖန်တီးပေးတော် မူခြင်းကိုဆိုလိုသည်။

သက်မဲ့မှ သက်ရှိကိုင်း၊သက်ရှိမှသက်မဲ့ကိုင်း ဖြစ်စေတော်မူခြင်း၏ အလိုသဘောမှာ ဥပမာ သက်မဲ့ဖြစ်သော ကြက်ဥမှ သက်ရှိဖြစ်သော ကြက်ငယ်ကိုင်း၊ သက်ရှိဖြစ်သော ကြက်မမှ သက်မဲ့ဖြစ်သော ကြက်ဥကိုင်း၊ ဖြစ်စေတော်မူခြင်းကို ဆိုလိုသည်။ ကြည့်-ထာနဝီ။

قُلْ إِنْ تُخْفُوا مَا فِي صُدُورِكُمْ أَوْ تُبْدُوهُ يَعْلَمْهُ اللَّهُ ۗ وَيَعْلَمُ مَا فِي السَّمَاوَاتِ وَمَا فِي الْأَرْضِ ۗ وَاللَّهُ عَلَىٰ كُلِّ شَيْءٍ قَدِيرٌ ﴿٢٩﴾

၂၉။ (အို-နဗီတမန်တော်) အသင်ပြောကြားပါလေ၊ (အချင်းတို့) အကယ်၍ အသင်တို့သည် မိမိတို့၏ ရင်တွင်းဝယ်ရှိသော အကြံအစည်များကို ထိမ်ချန်လျှို့ဝှက် ဖုံးအုပ်ထားကြသည်ဖြစ်စေ၊ သို့တည်းမဟုတ် ထိုအကြံအစည်များကို ထင်ရှားစွာ ထုတ်ဖော်ကြသည်ဖြစ်စေ(မည်သို့ပင်ဖြစ်စေကာမူ) အလ္လာဟ်အရှင်မြတ်သည် ထိုအကြံအစည်များကို သိရှိတော်မူလေသည်။

ထိုမျှမကသေးချေ။ ထိုအရှင်မြတ်သည် အာကာသ ကောင်းကင်ဘုံများ၌၎င်း၊ ပထဝီမြေပြင်၌၎င်း၊ ရှိရှိသမျှ အလုံးစုံတို့ကို အကြွင်းမဲ့ သိရှိတော်မူပေသည်။ ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသောအနန္တဘုန်းတန်ခိုးတော်ရှင်လည်း ဖြစ်တော်မူပေသတည်း။

يَوْمَ تَجِدُ كُلُّ نَفْسٍ مَا عَمِلَتْ مِنْ خَيْرٍ مُحْضَرًا وَمَا عَمِلَتْ مِنْ سُوءٍ تَوَدُّ لَوْ أَنَّ بَيْنَهَا وَبَيْنَهُ أَمَدًا بَعِيدًا ۗ وَيُحَذِّرُكُمُ اللَّهُ نَفْسَهُ ۗ وَاللَّهُ رَءُوفٌ بِالْعِبَادِ ﴿٣٠﴾

၃၀။ အကြင်နေ့၌ လူတိုင်းလူတိုင်းသည် မိမိပြုလုပ်ခဲ့သမျှသောကောင်းမှုသုစရိုက်များကို၎င်း၊ မိမိတို့ ပြုလုပ်ခဲ့သမျှသောမကောင်းမှု ဒုစရိုက်များကို၎င်း (မိမိတို့) ရှေ့မှောက်တွင် အဆင်သင့်တွေ့ရှိကြလတ္တံ့။ ထိုအခါ ယင်းသူတို့သည် (မိမိတို့ ပြုကျင့်ခဲ့လေသော ဒုစရိုက်များကို မမြင်လိုကြသဖြင့်) "အကယ်၍သာ ယင်းသူတို့နှင့် ထို့နေ့၏ စပ်ကြားဝယ် ကမ်းလှမ်းဝေးကွာလှစွာသော ခရီးစခမ်းရှိနေပါလျှင် ကောင်းလေစွတကား" ဟုတောင့်တကြကုန်အံ့။ တဖန် အလ္လာဟ်အရှင်မြတ်သည် မိမိ(၏ အပြစ်ဒဏ်တော်)ကို (ကြောက်ရွံ့စေရန်) အသင်တို့အား သတိပေးနှိုးဆော်တော်မူသည်။ အကြောင်းတမူကား အလ္လာဟ်အရှင်မြတ်သည် (မိမိ)ကျွန်များကို အလွန် သနားညှာတာတော်မူသောအရှင် ဖြစ်တော်မူသတည်း။

قُلْ إِنْ كُنْتُمْ تُحِبُّوْنَ اللّٰهَ فَاتَّبِعُوْنِیْ يُحْبِبْكُمُ اللّٰهُ وَيَغْفِرْ لَكُمْ ذُنُوْبَكُمْ ۗ وَاللّٰهُ غَفُوْرٌ رَّحِيْمٌ ﴿٣١﴾

၃၁။ (အို-နဗီတမန်တော်) အသင်သည် (လူခပင်းတို့အား ဤသို့) ပြောကြားပါလေ။ အကယ်၍ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ချစ်ကြည်မြတ်နိုးကြပါမူ *ငါ၏အမိန့်ညွှန်ကြားချက်များကို အစဉ်တစိုက်လိုက်နာကြကုန်။* [၁] (သို့မှသာလျှင်) အသင်တို့အား အလ္လာဟ်အရှင်မြတ်သည် ချစ်ကြည်မြတ်နိုးတော်မူအံ့။ ထို့ပြင်တဝ ထိုအရှင်မြတ်သည် အသင်တို့၏ ပြစ်မှု ဒုစရိုက် များကိုလည်း လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော် မူအံ့။ စင်စစ်တမူကား အလ္လာဟ် အရှင်မြတ်သည် (အပြစ်များမှ) အကြိမ်ကြိမ်လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော် မူသောအရှင်၊ အစဉ်သနား ညှာတာတော်မူသော မဟာ ကရုဏာတော်ရှင် ဖြစ်တော်မူသတည်း။

قُلْ أَطِيْعُوا اللّٰهَ وَالرَّسُوْلَ ۚ فَإِنْ تَوَلَّوْا فَإِنَّ اللّٰهَ لَا يُحِبُّ الْكٰفِرِيْنَ ﴿٣٢﴾

၃၂။ အသင်သည် (ယင်းသူတို့အား) ပြောကြားပါလေ။ အသင်တို့သည် အလ္လာဟ် အရှင်မြတ်၏ အမိန့်တော် များကိုငှင်း၊ ရစူလ် တမန်တော်၏ အမိန့်တော်များကိုငှင်း၊ (တသဝေမသိမ်း) လိုက်နာကြကုန်။

---

(၁) တမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်ဖြစ်၍ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ပို့ချတော်မူသော တရားဒေသနာတော်များကို တိကျပြတ်သားစွာ လက်တွေ့လိုက်နာကျင့်သုံး၍ ကမ္ဘာသူကမ္ဘာသားတို့အား ကမ္ဘာ့မီးရှူးတန်ဆောင်အဖြစ် စံပြသွားတော်မူခဲ့ချေပြီ။ သို့ဖြစ်ပေရာ အကြင်သူတစ်ဦးသည် အလ္လာဟ်အရှင်မြတ်အား ကြည်ညိုမြတ်နိုးပါလျှင် ထိုသူသည် တမန်တော်မြတ် ချမှတ်တော်မူခဲ့သော လမ်းစဉ်များကို ဖဝါးခြေထပ် လိုက်နာကျင့်မူရပေမည်။ ဤကား 'အီမာန်' ၏ စံချိန်ပေတည်း။ တမန်တော်မြတ် ချမှတ်တော်မူခဲ့သည့် လမ်းစဉ်များကို မလိုက်နာမကျင့်သုံးပါဘဲလျက် အလ္လာဟ် အရှင်မြတ်အား ကြည်ညို မြတ်နိုးပါသည်ဟု ထုတ်ဖော် ပြောဆိုခြင်းမှာ အဓိပ္ပါယ် မရှိလှချေ။ ထို့အတွက်ကြောင့် ပင်လျှင် "အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား ကြည်ညိုမြတ်နိုးကြပါလျှင် ငါ၏ အမိန့်ညွှန်ကြားချက်များကို လိုက်နာကြကုန်၊ သို့ဖြစ်လျှင် အရှင်မြတ်သည် အသင်တို့အား ချစ်ကြည်မြတ်နိုးတော်မူအံ့ အသင်တို့၏ အပြစ်များကိုလည်း ချမ်းသာခွင့် ပေးသနားတော်မူအံ့" ဟု မိန့်ဆိုထားတော်မူလေသည်။

တဖန် အကယ်၍ ယင်းသူတို့သည် သွေဖည် ကျောခိုင်း၍ လွဲရှောင် သွားကြပါမူ မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် (ယင်းကဲ့သို့) မယုံမကြည် သွေဖည် ငြင်းပယ်သော *"ကာဖိရ်"* တို့ကိုကား *နှစ်သက်တော်မမူချေ။* [၁]

إِنَّ اللَّهَ اصْطَفَىٰ آدَمَ وَنُوحًا وَآلَ إِبْرَاهِيمَ وَآلَ عِمْرَانَ عَلَى الْعَالَمِينَ ﴿٣٣﴾

**၃၃။** ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် (နဗီတမန်တော်) *အာဒမ်ကိုငှင်း၊* [၂] (နဗီတမန်တော်) *နူဟ်ကို ၎င်း၊* [၃] (နဗီတမန်တော်) အီဗ်ရာဟီမ်၏ အဆက်အနွယ်ကို ၎င်း၊ အီမ်ရာန်၏ အဆက်အနွယ် ကိုင်း၊ စကြာဝဠာ ခပ်သိမ်းတို့အပေါ်ဝယ် ရွေးချယ် မြှောက်စားတော်မူခဲ့လေပြီ။

---

(၁) အလ္လာဟ်အရှင်မြတ်သည် မိမိ၏ တရားဒေသနာတော်များကို နာခံသော သူများအား နှစ်သက်တော်မူ၏။ မိမိ၏ တရားဒေသနာတော်များကို သွေဖည်ငြင်းဆန်သောသူများကိုကား မည်သို့ပင် ဖြစ်စေကာမူ အလ္လာဟ်အရှင်မြတ်သည် နှစ်သက်တော်မမူချေ။

(၂) ဘခင်ကြီး တမန်တော်အာဒမ် (အလိုင်ဟစ္စလာမ်) ၏ အမည်နာမကို ကုရ်အာန်ကျမ်းမြတ်တွင် (၂၅)နေရာ၌ တွေ့ရှိရပေသည်။ တမန်တော် အာဒမ်၏ အတ္ထုပ္ပတ္တိနှင့် စပ်လျဉ်း၍အကျယ်ကို အောက်ခြေအမှတ် ၇၄-၇၅-၇၉-၈၀-၈၂-၈၃-၈၄-၈၅-၈၆-၈၇-၈၈-၉၀-၉၂- တွင်ရှုပါ။

(၃) အလ္လာဟ်အရှင်မြတ် စေလွှတ်တော်မူခဲ့သော တမန်တော်များတွင် တမန်တော် နူဟ်သည် တပါးအပါအဝင် ဖြစ်၏။ တမန်တော်နူဟ်၏ အမည်နာမကို ကုရ်အာန် ကျမ်းမြတ်တွင် (၄၃) နေရာ၌ တွေ့ရှိရ၏။ ထိုတမန်တော်ကြီး၏ အကြောင်း အတ္ထုပ္ပတ္တိကို ကုရ်အာန်ကျမ်းမြတ် ၃း၃၃။ ၄း၁၆၃။ ၆း၈၅။ ၇း၅၉-၆၄။ ၉း၇၀။ ၁၀း၇၁-၇၃။ ၁၁း၂၅-၄၉။၁၁း၈၉။ ၁၄း၉။ ၁၇း၃၊၁၇။ ၁၉း၅၈။ ၂၁း၇၆-၇၇။ ၂၂း၄၂။ ၂၃း၂၃-၃၀။ ၂၅း၃၇။ ၂၆း၁၀၅-၁၂၀။ ၂၉း၁၄-၁၅။ ၃၃း၇။ ၃၇း၇၅-၈၂။ ၃၈း၁၂။ ၄၀-၅၊၃၁။ ၄၂း၁၃။ ၅၀း၁၂။ ၅၁း၄၆။ ၅၃း၅၂။ ၅၄း၉။ ၅၇း၂၆၊ ၆၆း၁၀။ ၇၁း၁-၂၈ တွင် ဖွင့်ဟမိန့်ဆိုထားတော်မူသည်။ ကုရ်အာန်ကျမ်းမြတ်၏ (၇၁)ကြိမ်မြောက် ကဏ္ဍသည် တမန်တော် နူဟ် (အလိုင်ဟစ္စလာမ်)နှင့် ပတ်သက်သော ကဏ္ဍပင်ဖြစ်သည်။

တမန်တော် နူဟ်သည် 'အီရာက်' နယ်တွင် ဖွားမြင်တော်မူ၏။ ထိုတမန်တော်ကြီး၏ မျိုးရိုးအဆက်အနွယ်ကို အချို့ကျမ်းများတွင် အောက်ပါအတိုင်း ဖော်ပြထားသည်ကို တွေ့ရှိရပေသည်။

တမန်တော်နူဟ်၊ ၎င်း၏အဘ လာမိက်၊ ၎င်း၏အဘ မတ်သူရှာလိဟ်၊ ၎င်း၏အဘ အုခ်နုခ်၊ (တနည်းးခုနူဟ်)၊၎င်း၏အဘ ယာရ်ဒ်၊ ၎င်း၏အဘ မဟ်လအီလ်၊ ၎င်း၏အဘ ကီနာန်၊ ၎င်း၏အဘ အနူရှ်၊ ၎င်း၏အဘ တမန်တော်ရှီဆ်၊ ၎င်း၏အဘ တမန်တော်အာဒမ်။ ကြည့်-ကိဆွဆွတ်လ်ကုရ်အာန်။

တမန်တော်နူဟ်(အလိုင်ဟစ္စလာမ်)သည် မိမိ၏အမျိုးသားများအား နှစ်ပရိစ္ဆေဒကြာမြင့်စွာ တရား ဟောကြားတော်မူခဲ့၏။ သို့ရာတွင်လည်း အနည်းငယ်မျှသောလူတစုမှတပါး ကျန်အမျိုးသားများသည် ➤➤

ذُرِّيَّةً بَعْضُهَا مِنْ بَعْضٍ ۗ وَاللَّهُ سَمِيعٌ عَلِيمٌ ﴿٣٤﴾

၃၄။ ယင်းသူတို့အနက် အချို့သော သူတို့သည် အချို့သော သူတို့၏ သားစဉ် မြေးဆက်များပင် ဖြစ်ကြပေသည်။ အမှန်သော်ကား အလ္လာဟ်အရှင် မြတ်သည် အကြွင်းမဲ့ ကြားသိတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသော အရှင်မြတ်ပင် ဖြစ်ပေသတည်း။

إِذْ قَالَتِ امْرَأَتُ عِمْرَانَ رَبِّ إِنِّي نَذَرْتُ لَكَ مَا فِي بَطْنِي مُحَرَّرًا فَتَقَبَّلْ مِنِّي ۖ إِنَّكَ أَنْتَ السَّمِيعُ الْعَلِيمُ ﴿٣٥﴾

၃၅။ (ပြန်လည်အောက်မေ့သတိရကြကုန်) အခါ တပါး၌ (မရ်ယမ်သခင်မ၏ဘခင်) အီမ်ရာန်၏ ဇနီးမိန်းမက (အလ္လာဟ်အရှင်မြတ်အထံတော်၌ ဤသို့) လျှောက်ထား ပန်ကြားခဲ့၏။ "အို- ကျွန်တော်မျိုးမ အား မွေးမြူတော်မူသော အရှင်မြတ်။ စင်စစ် ဧကန် ကျွန်တော် မျိုးမသည် အရှင်မြတ် အဘို့ မိမိ ဝမ်းတွင်း၌ရှိသောကလေးကို အရှင်မြတ်အား သာ(ဝတ်ပြုနိုင်စေခြင်းငှာ) လွတ်လပ်စွာထားရှိရန် အတွက် ခိဋ္ဌာန်ပြုပါ၏။ သို့ဖြစ်ပါ၍ အရှင်မြတ် သည် ယင်း(ခိဋ္ဌာန်ချက်ကို) ကျွန်တော်မျိုးမ၏ အထံမှ သဘောတူလက်ခံတော်မူပါ။

---

➤➤ တမန်တော်ကြီး၏ အဆုံးအမကို မနာခံကြသည့်အပြင် မလျော်ကန်သော အကြောင်းအမျိုးမျိုးပြကာ တမန်တော်ကြီးကိုပင် မထီမဲ့မြင် ကဲ့ရဲ့ပြစ်တင်စကား ပြောဆိုခဲ့ကြ၏။ ဤအကြောင်းကို ကုရ်အာန်ကျမ်းမြတ် "ဟူဒ်" ကဏ္ဍတွင် အကျယ်တဝင့် တွေ့ရှိရသည်။

တမန်တော်နူဟ်သည် သက်တော် (၉၅၀)တိုင်တိုင် သက်တော်ထင်ရှားရှိ၍ မိမိ၏အမျိုးသားများကို တရားဓမ္မ ဟောညွှန်ပြသော်လည်း အမျိုးသားတို့သည် ပိုမို၍ပင် ဆိုးသွမ်း၍ လာခဲ့ကြသည်ကို တွေ့မြင်ရသောအခါ အထူးပင် ကြေကွဲဝမ်းနည်းတော်မူလေသည်။

အလ္လာဟ်အရှင်မြတ်သည် ထိုမျှဆိုးသွမ်းလှသော အမျိုးသားများကို အပြစ်ရှိသည့်အားလျော်စွာ ရေဘေးသင့်စေပြီး ကွပ်မျက်တော်မူရန် ကြံရွယ်တော်မူသောအခါ တမန်တော်မြတ်အား သင်္ဘောတစင်းကို တည်ဆောက်စေ၍ မိမိ၏နောက်လိုက်တပည့်သားများနှင့် တိရစ္ဆာန် ဖို,မ တစုံစီကို တင်စေတော်မူလေသည်။ တမန်တော်နူဟ်သည် အမိန့်တော်အတိုင်း သင်္ဘောတစင်းကို တည်ဆောက်ရာ ဆိုးသွမ်းလှသော အမျိုးသားတို့သည် ထိုသို့ သင်္ဘောတည်ဆောက်သည်ကိုပင် ပြက်ရယ်စကားပြောဆိုခဲ့ကြသေး၏။ ကြည့်-ကုရ်အာန် (၁၁:၃၈)။

ပြစ်ဒဏ်တော်ခတ်ရန် အချိန်ကျရောက်လာသောအခါ နေ့ညဉ့်မပြတ် မိုးသည်းထန်စွာ ➤➤

မုချဧကန် အရှင်မြတ်သည် အကြွင်းမဲ့ ကြားသိတော်မူသော အရှင်၊ အရာခပ်သိမ်းတို့ကို သိရှိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပါသည်။

**၃၆။** တဖန် ထို(အီမ်ရာန်၏ ဇနီးမိန်းမ)သည် ထို(သန္ဓေ)ကို သမီးမိန်းကလေး ဖွားမြင်ခဲ့လေရာ (ဝမ်းနည်းစွာဖြင့်) “အို- ကျွန်တော်မျိုးမအား မွေးမြူတော် မူသောအရှင်မြတ်၊ အမှန်စင်စစ် ကျွန်တော်မျိုးမသည် ထိုသန္ဓေကို သမီးမိန်းကလေး ဖွားမြင်ပါပြီ”။

فَلَمَّا وَضَعَتْهَا قَالَتْ رَبِّ إِنِّي
وَضَعْتُهَا أُنْثَىٰ ۖ وَاللَّهُ أَعْلَمُ بِمَا
وَضَعَتْ ۖ وَلَيْسَ الذَّكَرُ
كَالْأُنْثَىٰ ۖ وَإِنِّي سَمَّيْتُهَا مَرْيَمَ
وَإِنِّي أُعِيذُهَا بِكَ وَذُرِّيَّتَهَا
مِنَ الشَّيْطَانِ الرَّجِيمِ ﴿٣٦﴾

အမှန်အားဖြင့် အလ္လာဟ် အရှင်မြတ်သည် ထိုသူမဖွားမြင်ခဲ့သည်ကို ပိုမို၍ သိရှိတော်မူ၏။ သို့ရာတွင် (ထိုသူမလိုလားသော) ယောကျ်ားလေးမူကား (မည်သည့်နည်းနှင့်မျှ) ဤ(ဖွားမြင်လေသော) သမီးမိန်းကလေးကဲ့သို့ မဟုတ်ချေ။

ထို့ပြင်တဝ မုချဧကန် ကျွန်တော်မျိုးမသည် ထိုသမီးမိန်းကလေးကို “မရ်ယမ်” ဟူ၍ အမည် မှည့်ခေါ်ပါပြီ။ ထို့ပြင် ထိုသူမကိုငင်း၊ ထိုသူမ၏ သားသမီးများကိုငင်း၊ နှင်ထုတ်ခြင်းခံရသော ရှိုင်တွာန်၏ အနှောင့်အယှက်များမှ ကာကွယ်စောင့်ထိန်းတော်မူပါရန် အရှင်မြတ်အားအပ်နှံပါ၏”ဟု လျှောက်ထားပန်ကြားလေသည်။

>> ရှာသွန်း၍ အင်း၊ အိုင်၊ ချောင်း၊ ကန်များမှ ရေများလျှံထွက်လာပြီး ရေဘေးကြီး ဆိုက်ရောက်ခဲ့ပေရာ တမန်တော် နူဟ်နှင့်တကွ သင်္ဘောပေါ်တွင် ပါရှိသောသူများမှအပ ကျန်တမျိုးသားလုံးတို့သည် ရေနစ်၍ အကြီးအကျယ် သေကြေပျက်စီးခဲ့ကြလေသည်။

တမန်တော်နူဟ်၏သား ‘ကင်န်အာန်’သည် တမန်တော်ကြီး၏ သားပင်ဖြစ်ပါလျက် လူပေါင်းမှား၍ ဘခင်ကြီး၏ အဆုံးအမကို မနာယူသည့်အတွက် ရေဘေးသင့်၍ သေဆုံးခဲ့ရလေသည်။

ပြစ်ဒဏ်တော်ရပ်စဲသွား၍ ရေများကျဆင်းသွားသည့်အခါ တမန်တော်နူဟ်၏ သင်္ဘောသည် “ဂျူဒီ” အမည်ရှိသော တောင်ထိပ်တွင် တည်ရှိနေခဲ့လေ၏။ ကြည့်-ကုရ်အာန် (၁၁:၄၄)။

فَتَقَبَّلَهَا رَبُّهَا بِقَبُولٍ حَسَنٍ وَأَنبَتَهَا نَبَاتًا حَسَنًا وَكَفَّلَهَا زَكَرِيَّا ۖ كُلَّمَا دَخَلَ عَلَيْهَا زَكَرِيَّا الْمِحْرَابَ وَجَدَ عِندَهَا رِزْقًا ۖ قَالَ يَا مَرْيَمُ أَنَّىٰ لَكِ هَٰذَا ۖ قَالَتْ هُوَ مِنْ عِندِ اللَّهِ ۖ إِنَّ اللَّهَ يَرْزُقُ مَن يَشَاءُ بِغَيْرِ حِسَابٍ ﴿٣٧﴾

၃၇။ ထို့နောက် ထို(မရ်ယမ်)အား ၎င်းကိုမွေးမြူတော်မူသော အရှင်သည် ကောင်းမွန်သောလက်ခံခြင်းမျိုးနှင့် သဘောတူလက်ခံတော်မူ၍ ကောင်းမွန်သော ကြီးပြင်းဖွံ့ဖြိုးခြင်း နည်းမျိုးဖြင့် ကြီးပြင်းဖွံ့ဖြိုးစေတော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည် တမန်တော် ဇကရီယာ [1] အား ထိုမိန်းကလေးကို ထိန်းသိမ်းစောင့်ရှောက်စေတော်မူခဲ့၏။

တမန်တော် ဇကရီယာသည် ထိုမရ်ယမ်အား ကြည့်ရှုရန် ၎င်း၏အဆောင်အတွင်းသို့ ဝင်ရောက်သည့်အခါတိုင်း၌ ထို(မရ်ယမ်)၏အနီး၌ စားဘွယ်များကိုတွေ့ရှိရသဖြင့် "အို-မရ်ယမ်၊ ဤစားဘွယ်ဘောဇဉ်များသည် အသင့်ထံ အဘယ်မှ ရောက်ရှိလာပါသနည်း"ဟု မေးမြန်းလေသည်။

ထိုအခါ (မရ်ယမ်)က ထိုစားဘွယ်များသည် အလ္လာဟ်အရှင်မြတ် အထံတော်မှဖြစ်ပါသည် ဟု ဖြေကြားခဲ့လေသည်။

ဧကန်မုချ အလ္လာဟ် အရှင်မြတ်သည် မိမိနှစ်လိုတော်မူသော သူများကို မခန့်မှန်း မချင့်တွက်နိုင်လောက်အောင် စားနပ်ရိက္ခာများကို ပေးသနားတော်မူလေသတည်း။

(၁) **တမန်တော် ဇကရီယာ။**

ဇကရီယာသခင်သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်များတွင် တပါးအပါအဝင်ဖြစ်၏။ တမန်တော် ဇကရီယာ၏အကြောင်း ကုရ်အာန်ကျမ်းမြတ်(၃း၃၆-၄၀၊ ၆း၈၅၊ ၁၉း၂-၁၁၊ ၂၁း၈၉-၉၀)တွင် တွေ့ရှိရပေသည်။ တမန်တော် ဇကရီယာသခင်သည် တမန်တော် ဒါဝူဒ်သခင်၏ အဆက်အနွယ်ဖြစ်သည်။

တမန်တော် ဇကရီယာ၏ ကြင်ရာတော် ဧလိရှဗအ်သည် တမန်တော် ဟာရူန်၏မျိုးနွယ်မှ ဖြစ်သည်။ ကြင်ရာတော် ဧလိရှဗအ်နှင့် မရ်ယမ်သခင်မ၏ မယ်တော် ဟွန်နာတို့သည် ညီအစ်မအရင်းများ ဖြစ်ကြပေသည်။

هُنَالِكَ دَعَا زَكَرِيَّا رَبَّهُۥ ۖ قَالَ رَبِّ هَبْ لِى مِن لَّدُنكَ ذُرِّيَّةً طَيِّبَةً ۖ إِنَّكَ سَمِيعُ ٱلدُّعَآءِ ٣٨

၃၈။ (မရ်ယမ် သခင်မ၏ ပြန်ကြားချက်ကို ကြားနာရလေသော်၊ နဗီတမန်တော်) ဇကရိယာ (အလိုင်ဟစ္စလာမ်)သည် *ထိုအခါ ထိုနေရာ၌ပင်* [1] မိမိအား မွေးမြူတော်မူသော အရှင်မြတ်ထံတော်၌ ဆုတောင်းပတ္ထနာ ပြုခဲ့လေသည်။ (ဆုတောင်းရာ တွင်) ထိုနဗီတမန်တော် ဇကရိယာ(အလိုင်ဟစ္စလာမ်) က "အို-ကျွန်တော်မျိုးတို့အား မွေးမြူတော်မူသော အရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးကို မိမိ အထံတော်မှ စင်ကြယ်သန့်ရှင်း အပြစ်ကင်းသော သားကောင်း ရတနာတပါးကို ပေးသနားတော်မူပါ။ မလွဲဧကန် အရှင်မြတ်သည် ဆုတောင်းပတ္ထနာများ ကို ကြားတော်မူသော အရှင်မြတ်ပင် ဖြစ်တော် မူပေသတည်း" ဟု လျှောက်ထားပန်ကြားခဲ့လေသည်။

فَنَادَتْهُ ٱلْمَلَٰٓئِكَةُ وَهُوَ قَآئِمٌ يُصَلِّى فِى ٱلْمِحْرَابِ أَنَّ ٱللَّهَ يُبَشِّرُكَ بِيَحْيَىٰ مُصَدِّقًۢا بِكَلِمَةٍ مِّنَ ٱللَّهِ وَسَيِّدًا وَحَصُورًا وَنَبِيًّا مِّنَ ٱلصَّٰلِحِينَ ٣٩

၃၉။ သို့ဖြစ်ပေရာ ထို [တမန်တော် ဇကရိယာ (အလိုင်ဟစ္စလာမ်)] သည် အခန်းတွင်း၌ ဆွလာတ် ဝတ်ပြုနေခိုက် "မလာအေ့ကဟ်" ကောင်းကင်တမန် များသည် ထိုတမန်တော်အား အသံကျယ်စွာ ပြောဆို နေကြသည်မှာ "မုချဧကန် အလ္လာဟ်အရှင်မြတ်သည် အသင့်အား "ယဟ်ယာ" [2] အမည်ရှိသော သားကောင်း ရတနာတပါး ပေးသနားတော် မူသည့် အကြောင်း ပီတိသောမနဿ ဝမ်းမြောက်ဘွယ်ရာ သတင်းပြော ကြားတော်မူလေသည်။

---

(၁) "ဟုနာလိက" ဟူသောစကား၏အဓိပ္ပါယ်မှာ "ထိုအချိန်၌" ဟူ၍၎င်း၊ "ထိုဌာန၌" ဟူ၍၎င်း ဖြစ်သည်။
တမန်တော်ဇကရိယာ (အလိုင်ဟစ္စလာမ်) ၏ ဆုတောင်းပတ္ထနာသည် အချိန်နှင့် ဌာနကို ထောက်ရှုခြင်းအားဖြင့် ကောင်းမြတ်သော အချိန်နှင့် ကောင်းမြတ်သောဌာနများတွင် အကြောင်းအားလျော်စွာ ဆုတောင်းပတ္ထနာပြုပါက ဆုတောင်းပြည့်နိုင်သည်ကို ဆင်ခြင်အပ်ပေသည်။

(၂) တမန်တော် ယဟ်ယာ (အလိုင်ဟစ္စလာမ်) သည် တမန်တော်ဇကရိယာ (အလိုင်ဟစ္စလာမ်)၏သားတော် ဖြစ်သည်။ တမန်တော် ယဟ်ယာ၏အကြောင်းကို ကုရ်အာန်ကျမ်းမြတ် (၃:၃၇-၄၀၊ ၆:၈၆၊ ၁၉:၂-၁၅၊ ၂၁:၈၉-၉၀) တွင် တွေ့ရှိနိုင်ပေသည်။

ထိုသားရတနာသည် "ကလိမတုလ္လာဟ်" အလ္လာဟ်အရှင်မြတ်၏ 'မုက္ခပါင်္ဂတော်' (တည်းဟူသော တမန်တော်အီစာ)ကို ထောက်ခံမည့်သူဖြစ်အံ့၊ အကြီးအမှူးလည်းဖြစ်အံ့။ (ကာမဂုဏ်အာရုံကို) အထူးစောင့်စည်းသူလည်းဖြစ်အံ့၊ သူတော်စင်များအနက်မှ နဗီတမန်တော် တပါးလည်းဖြစ်အံ့။

قَالَ رَبِّ اَنّٰى يَكُوْنُ لِىْ غُلٰمٌ وَّقَدْ بَلَغَنِىَ الْكِبَرُ وَامْرَاَتِىْ عَاقِرٌ ۗ قَالَ كَذٰلِكَ اللّٰهُ يَفْعَلُ مَا يَشَآءُ ﴿٤٠﴾

၄၀။ (ထိုစကားကိုကြားလျှင်) ထိုနဗီတမန်တော် (ဇကရိယာ)က "အို-ကျွန်တော်မျိုးကို မွေးမြူတော်မူသောအရှင်မြတ်၊ ကျွန်တော်မျိုး၌ သားကောင်းရတနာသည် အဘယ်သို့ ရရှိနိုင် ပါအံ့နည်း။ အကြောင်းကား ဇကန်စင်စင် *ဇရာဓမ္မ အိုခြင်းတရားသည် ကျွန်တော်မျိုးထံ ဆိုက်ရောက်လာခဲ့ချေပြီ။* ၁ ကျွန်တော်မျိုး၏ ဇနီးမိန်းမသည်လည်း (သက်ရွယ်ကြီးရင့်ပြီ ဖြစ်သည်သာမက) သားသမီး မမွေးသော အမြုံလည်းဖြစ်ပါသည် ဟု လျှောက်ထား ပန်ကြားလေသည်။

(ထိုရောကာလ) အလ္လာဟ် အရှင်မြတ်က "ဤနည်းအတိုင်းပင် (သားကောင်းရတနာကို ရရှိအံ့၊ အကြောင်းကား) အလ္လာဟ် အရှင်မြတ်သည် (ဖြစ်လေ့ဖြစ်ထမရှိ၊ အံ့ဘွယ်သရဲဖြစ်သော အမှု ကိစ္စများကိုပင်) အလိုတော်ရှိရာ ပြုလုပ်တော် မူပေသည်" ဟု ပြန်ကြားတော်မူခဲ့လေသည်။

---

(၁) တမန်တော် ဇကရိယအား "မလာအိကဟ်" ကောင်းကင်တမန်များက သားတော်တပါး ရရှိမည့်အကြောင်း ပြောကြားသည့်အချိန်တွင် တမန်တော် ဇကရိယာ၏ အသက်မှာ ၉၉-နှစ်ဖြစ်၍ တမန်တော်၏ကြင်ယာတော်မှာ အသက် ၉၈-နှစ်ဖြစ်ချေသည်။ ကြည့်-ဗဟ်ရုလ်မုဟီတ္ဂ်။

قَالَ رَبِّ اجْعَلْ لِّيْٓ اٰيَةً ۭ قَالَ اٰيَتُكَ اَلَّا تُكَلِّمَ النَّاسَ ثَلٰثَةَ اَيَّامٍ اِلَّا رَمْزًا ۭ وَاذْكُرْ رَّبَّكَ كَثِيْرًا وَّسَبِّحْ بِالْعَشِيِّ وَالْاِبْكَارِ ۝٤١

၄၁။ ထို (နဗီတမန်တော် ဇကရိယာသည် အလ္လာဟ် အရှင်မြတ်၏ ပြန်ကြားချက်ကို ကြားရလျှင် ထပ်မံ၍ ဤသို့) လျှောက်ထား ပန်ကြား ပြန်လေသည်။ "အို- ကျွန်တော်မျိုးကို မွေးမြူတော် မူသောအရှင်၊ (သို့ ဖြစ်လျှင်) အရှင်မြတ်သည် ကျွန်တော်မျိုး အဘို့ရာ (ကျွန်တော်မျိုး၏ ဇနီးမှာ သားရတနာ ကိုယ်ဝန်ဆောင်ရှိကြောင်း ကောင်းစွာ သိနိုင်အံ့သော ၄၁) *နိမိတ်လက္ခဏာ တရပ်ရပ်ကို ပြဋ္ဌာန်း၍ ပေးတော်မူပါ။* ၁

"(ထိုရောအခါ၀ယ် အလ္လာဟ်အရှင်မြတ်က ဤသို့) မိန့်ကြားတော်မူလေသည်။ (အို-ဇကရိယာ)၊ အသင်၏လက္ခဏာကား သုံးရက်တိုင်တိုင် လူအပေါင်း တို့နှင့် လက်ရိပ်ခြေရိပ် မျက်ရိပ်မှအပ (တခွန်း တပါဒမျှ) အသင် စကားမပြောဆိုနိုင်ခြင်းပင်တည်း။ အသင်သည် (ထိုနေ့ရက်များတွင်း) မိမိအရှင်ကို များစွာ တ,သ သတိရကာ ညဥ့်ဦးယံများ၌၎င်း၊ နံနက်ယံ များ၌၎င်း၊ (ထိုအရှင်မြတ်)၏ "တတ်စ်ဗီဟ်" ဘာဝနာကို စီးဖြန်းပါလေ။

---

(၁) အထက်တွင် ရေးသား ဖေါ်ပြခဲ့သည့်အတိုင်း တမန်တော် ဇကရိယာ(အလိုင်ဟိစ္စလာမ်)သည် အလ္လာဟ် အရှင်မြတ်အထံတော်၌ သားဆုပန်ကြားသောအခါ အလ္လာဟ်အရှင်မြတ်သည် သားထူးသားမြတ် တပါး ပေးသနား တော်မူမည့်အကြောင်း သတင်းကောင်းကို အပါးတော်စေတမန်များက တမန်တော်မြတ်အား ပြောကြားခဲ့ ကြလေသည်။

တမန်တော် ဇကရိယာသည် မိမိ၏ကြီးရင့်သော အသက်အရွယ်နှင့် မိမိ၏ဇနီးသည် အမြုံဖြစ်သည်ကို ထောက်ချင့်၍ "မိမိ၌ အသို့လျှင် သားရတနာ ရနိုင်ပါအံ့နည်း" ဟု အလ္လာဟ်အရှင်မြတ် အထံတော်၌ လျှောက်ထားပြန်ရာ အလ္လာဟ်အရှင်မြတ်က သက်ရွယ်ကြီးရင့်လျက်ရှိသော လင်ခင်ပွန်းနှင့် မြုံလျက်ရှိသော ဇနီးခင်ပွန်း၌ပင် သားရတနာထွန်းကားမည့်အကြောင်း ပြန်ကြားတော်မူလေသည်။

ထိုအခါ တမန်တော် ဇကရိယာသည် ၀မ်းသာလှသဖြင့် အမိ၀မ်းတွင်း၌ ထိုသားရတနာ ကိုယ်ဝန်ဆောင်သည်ကို အမြန်သိနိုင်ရန် အလို့ငှာ "အို- ကျွန်တော်မျိုး၏အရှင်၊ ကျွန်တော်မျိုးအဘို့ နိမိတ်လက္ခဏာတရပ်ကို ပြဋ္ဌာန်းပေးတော်မူပါ" ဟု အလ္လာဟ်အရှင်မြတ်ထံတော်၌ လျှောက်ထား ➤➤

وَاِذۡ قَالَتِ الۡمَلٰٓٮِٕكَةُ يٰمَرۡيَمُ اِنَّ اللّٰهَ اصۡطَفٰٮكِ وَطَهَّرَكِ وَاصۡطَفٰٮكِ عَلٰى نِسَآءِ الۡعٰلَمِيۡنَ ﴿٤٢﴾

၄၂။ တဖန် (သတိရကြလေကုန်) တရံရောအခါ၊ မလာအိကဟ် ကောင်းကင်စေတမန်များက (မရ်ယမ် သခင်မအား) အို-"မရ်ယမ်" မုချဧကန် အလ္လာဟ် အရှင်မြတ်သည် အသင့်အား ရွေးချယ် မြှောက် စားတော်မူခဲ့လေပြီ။ မနစ်မြို့ဘွယ်ရာသော အကြောင်း အရာများမှလည်း ကင်းရှင်းစေတော် မူခဲ့လေပြီ။ ၎င်းအပြင် (ယခုတဖန်) အသင့်အား စကြာဝဠာ အပေါင်းရှိ အမျိုးသမီးများ တွင်လည်း ရွေးချယ် မြှောက်စားတော်မူခဲ့လေပြီ ဟု ပြောကြားခဲ့ကြလေ သည်။

يٰمَرۡيَمُ اقۡنُتِىۡ لِرَبِّكِ وَاسۡجُدِىۡ وَارۡكَعِىۡ مَعَ الرّٰكِعِيۡنَ ﴿٤٣﴾

၄၃။ (သို့ဖြစ်ပေရာ) အို-မရ်ယမ်၊ အသင်သည် မိမိအရှင်မြတ်၏ အမိန့်တော်များကို ဦးထိပ်ရွက် ဆင်လျက်နေပါလေ။ ထို့ပြင်တဝ အသင်သည် "စဂျ်ဒဟ်" ပျပ်ဝပ်ဦးချလျက်နေပါလေ။ ထို့ပြင် အသင်သည် ရကူအ် ကိုင်းညွတ် ရိကျိုးသူတို့နှင့် အတူတကွ ရကူအ် ကိုင်းညွတ် ရိကျိုးလျက်နေပါ လေ(ဟု "မလာအိကဟ်" အပါးတော် စေတမန်များ က ဆက်လက်၍ ပြောကြားကုန်သတည်း)။

ذٰلِكَ مِنۡ اَنۡۢبَآءِ الۡغَيۡبِ نُوۡحِيۡهِ اِلَيۡكَ‌ؕ وَمَا كُنۡتَ لَدَيۡهِمۡ اِذۡ يُلۡقُوۡنَ اَقۡلَامَهُمۡ

၄၄။ (အို-နဗီတမန်တော်) ဤ(သည့် အတ္ထုပ္ပတ္တိ များ)သည် (အသင်၏) မျက်ကွယ်၌ဖြစ်သော သတင်းများအနက်မှဖြစ်ရကား ငါအရှင်မြတ်သည် ထိုအတ္ထုပ္ပတ္တိများကို အသင့်အား ပြန်ကြားတော် မူလေသည်။

---

➢➢ အသနားခံလေရာ အလ္လာဟ်အရှင်မြတ်က "အသင့်အတွက် နိမိတ်လက္ခဏာသည်ကား အသင်သည် သုံးရက်တိုင်တိုင် လူသားတို့နှင့် လက်ရိပ်၊ ခြေရိပ်၊ မျက်နှာရိပ်မှအပ စကားပြောဆိုနိုင်မည်မဟုတ်" ဟု ပြန်ကြားတော်မူလေသည်။

أَيُّهُمْ يَكْفُلُ مَرْيَمَ ۖ وَمَا كُنتَ لَدَيْهِمْ إِذْ يَخْتَصِمُونَ ﴿٤٤﴾

စင်စစ်တမူကား ယင်းသူတို့သည် "မရ်ယမ်" ကို ယင်းသူတို့အနက်မှ မည်သူအုပ်ထိန်းရမည်ကို (မဲကောက်ရန်အတွက်) မိမိတို့၏ ကလောင်များကို (ရေထဲ၌) ပစ်ချကြသောအခါတွင်လည်း အသင်သည် ယင်းသူတို့အပါး၌ ရှိခဲ့သည်မဟုတ်။

ထိုနည်းတူစွာ ယင်းသူတို့သည် (မဲမကောက်မီ) မိမိတို့အချင်းချင်း တဦးနှင့်တဦး ငြင်းခုံလျက်ရှိကြသော အခိုက်တွင်လည်း အသင်သည် ယင်းသူတို့အပါးဝယ် ရှိခဲ့သည်မဟုတ်ချေ။

إِذْ قَالَتِ الْمَلَائِكَةُ يَا مَرْيَمُ إِنَّ اللَّهَ يُبَشِّرُكِ بِكَلِمَةٍ مِّنْهُ اسْمُهُ الْمَسِيحُ عِيسَى ابْنُ مَرْيَمَ وَجِيهًا فِي الدُّنْيَا وَالْآخِرَةِ وَمِنَ الْمُقَرَّبِينَ ﴿٤٥﴾

၄၅။ (ပြန်လည်အောက်မေ့ သတိရရှိကြကုန်)၊ အခါတပါး၌ "မလာအိကဟ်" ကောင်းကင်တမန်များက (မရ်ယမ်အား) ဤသို့ပြောဆိုကြကုန်၏။ အို-မရ်ယမ်၊ အလ္လာဟ်အရှင်မြတ်သည် ဧကန်မလွဲ မိမိထံတော်မှ မုက္ခပါဌ်တော် [(ဝါ) အလ္လာဟ်၏ မုက္ခပါဌ်တော်ဟူသော ဘွဲ့နာမဖြင့် ကျော်ကြားမည့် သားတော်တပါး ရရှိမည့်အကြောင်း] နှင့် ပတ်သက်၍ ဝမ်းမြောက်ဘွယ်ရာ မင်္ဂလာသတင်းကို အသင့်ထံသို့ ပို့တော်မူ၏။ ယင်း(သားကောင်းရတနာ)၏ အမည်နာမ(နှင့် ဘွဲ့)မှာ မရ်ယမ်၏သား "အီစာ"၊ "မစီဟ်" ဟူ၍ဖြစ်အံ့၊ ယင်းအီစာသည် မျက်မှောက်ဘဝ၌ငင်း၊ နောင်တမလွန် ဘဝ၌ငင်း၊ ဂုဏ်အသရေ ရှိသူလည်းဖြစ်အံ့။ အလ္လာဟ်အရှင်မြတ်နှင့် နီးစပ်သောသူတို့ဘောင်တွင် အပါအဝင်လည်းဖြစ်အံ့။

وَيُكَلِّمُ النَّاسَ فِي الْمَهْدِ وَكَهْلًا وَمِنَ الصَّالِحِينَ ﴿٤٦﴾

၄၆။ ၎င်းပြင် ယင်းအီစာသည် (အလ္လာဟ်အရှင်မြတ်အထံတော်မှ တန်ခိုးပြာဋိဟာများ ရရှိခြင်းကြောင့်) ပုခက်တွင်း၌ငင်း၊ အရွယ်ရောက်သော အခါ၌ငင်း၊ လူခပင်းတို့နှင့် စကားစမြည်ပြောဆိုအံ့။

ၚင်းပြင် ယင်းအိမ်စာသည် သူတော်စင်သူတော်ကောင်းတို့ဘောင်တွင် အပါအဝင်လည်း ဖြစ်အံ့။

၄၇။ ထိုသူမ (မရ်ယမ်သခင်မ)သည် (အပါးတော်စေတမန်များ၏ စကားများကိုကြားရလျှင် အလ္လာဟ်အရှင်မြတ်၏ အထံတော်၌ ဤသို့ လျှောက်ထားခဲ့လေသည်။) အို-ကျွန်တော်မ၏ အရှင်၊ ကျွန်တော်မျိုးမ၌ မည်သည့်နည်းဖြင့်သာ သားရတနာ ရှိနိုင်ပါအံ့နည်း။ အမှန်စင်စစ်သော်ကား မည်သည့်ယောကျ်ားတဦးတယောက်ကမျှ ကျွန်တော်မျိုးမအား ထိတွေ့ဘူးခဲ့သည်မရှိပါ။

قَالَتْ رَبِّ اَنّٰى يَكُوْنُ لِيْ وَلَدٌ وَّلَمْ يَمْسَسْنِيْ بَشَرٌ ؕ قَالَ كَذٰلِكِ اللّٰهُ يَخْلُقُ مَا يَشَآءُ ؕ اِذَا قَضٰٓى اَمْرًا فَاِنَّمَا يَقُوْلُ لَهٗ كُنْ فَيَكُوْنُ ﴿٤٧﴾

(ထိုအခါ) အလ္လာဟ် အရှင်မြတ်က (အို-မရ်ယမ်၊ အသင်၌ မည်သူတဦးတယောက်ကမျှ ထိတွေ့ခြင်း မရှိဘဲလျက်) ဤနည်းအတိုင်းပင် (သားကောင်းရတနာတပါး ရရှိအံ့။ အကြောင်းတမူကား) အလ္လာဟ်အရှင်မြတ်သည် မိမိအလိုတော်ရှိရာ ဖန်ဆင်းတော်မူ၏။

ထိုအရှင်မြတ်သည် တစုံတခုသော အရေးကိစ္စကို စီရင် ပြဋ္ဌာန်းတော်မူသောအခါ ထိုအရေးကိစ္စကို ဖြစ်စေဟူ၍ မိန့်ကြားတော်မူရုံမျှဖြင့် ထိုအရေးကိစ္စသည် (တမုဟုတ်ခြင်းပင်) ဖြစ်လာလေသတည်း။

၄၈။ ထိုမှတပါး ထို အရှင်မြတ်သည် ယင်း (သားတော်)အား ကျမ်းဂန်ကိုၚင်း၊ ဉာဏ်ပညာအမြော်အမြင်ကိုၚင်း၊ "တော်ရာတ်" ကျမ်းမြတ်ကိုၚင်း၊ "အင်န်ဂျီလ်" ကျမ်းမြတ်ကိုၚင်း သင်ကြားပြသတော်မူလတ္တံ့။

وَيُعَلِّمُهُ الْكِتٰبَ وَالْحِكْمَةَ وَالتَّوْرٰىةَ وَالْاِنْجِيْلَ ﴿٤٨﴾

وَرَسُوۡلًا اِلٰى بَنِىۡۤ اِسۡرَآءِيۡلَ ۙ اَنِّىۡ قَدۡ جِئۡتُكُمۡ بِاٰيَةٍ مِّنۡ رَّبِّكُمۡ ۙۚ اَنِّىۡۤ اَخۡلُقُ لَكُمۡ مِّنَ الطِّيۡنِ كَهَیْـــَٔةِ الطَّيۡرِ فَاَنۡفُخُ فِيۡهِ فَيَكُوۡنُ طَيۡرًاۢ بِاِذۡنِ اللّٰهِ‌ ۚ وَاُبۡرِئُ الۡاَكۡمَهَ وَالۡاَبۡرَصَ وَاُحۡىِ الۡمَوۡتٰى بِاِذۡنِ اللّٰهِ‌ ۚ وَاُنَبِّئُكُمۡ بِمَا تَاۡكُلُوۡنَ وَمَا تَدَّخِرُوۡنَ فِىۡ بُيُوۡتِكُمۡ‌ؕ اِنَّ فِىۡ ذٰلِكَ لَاٰيَةً لَّكُمۡ اِنۡ كُنۡتُمۡ مُّؤۡمِنِيۡنَ ۝٤٩

၄၉။ ထို့ပြင်တဝ (ယင်း သားတော်)အား အစ္စရာအီလီ မျိုးနွယ်အပေါင်းတို့ထံသို့ ရစူလ်တမန်တော် အဖြစ် စေလွှတ်တော်မူအံ့။

(ထိုအခါ ယင်း သားတော်က အစ္စရာအီလီ မျိုးနွယ်တို့အားဤသို့ပြောကြားအံ့)။ "(အို-အချင်းတို့) အကျွန်ုပ်သည် ဧကန်မုချ အသင်တို့ထံသို့ အသင်တို့၏ အရှင်မြတ် အထံတော်မှ သက်သေလက္ခဏာ တန်ခိုးပြာဋိဟာများကို အမှန်ပင်ဆောင်ယူခဲ့ပါသည်။

အကျွန်ုပ်သည် မုချဧကန် အသင်တို့ (ယုံကြည်အံ့သောငှာ) ရွှံ့မြေဖြင့် ငှက်တိရစ္ဆာန်၏ ပုံသဏ္ဌာန်ကဲ့သို့ ငှက်ရုပ် ပြုလုပ်ပြီးနောက် ထို ပုံသဏ္ဌာန် အတွင်းသို့ မန်းမှုတ်မည်၊ ထိုအခါ ထို ငှက်ရုပ်သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြင့် (အသက်ရှင်၍ပျံသန်းနိုင်သော ပကတိ)ငှက်တိရိစ္ဆာန် ဖြစ်လာအံ့။

၎င်းပြင် အကျွန်ုပ်သည် အမိဝမ်းတွင်းမှ စက္ခု အလင်းမရရှိခဲ့သူကိုင်း၊ (ခရုသင်းစသော)ကုဋ္ဌနူနာ စွဲကပ်သူကိုင်း၊ ရောဂါဘယ ပျောက်ကင်း(၍ ပြကတေ့ လူကောင်းများဖြစ်လာ)နိုင်စေအံ့။ ထိုနည်း တူစွာ အကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်၏ အမိန့် တော်ဖြင့် သူသေများကိုလည်း ရှင်စေနိုင်အံ့။

ထိုမှတပါးတုံ အကျွန်ုပ်သည် အသင်တို့ မိမိတို့အိမ်များတွင် စားသုံးခဲ့သော အရာများကို လည်းကောင်း၊ အသင်တို့ (မိမိတို့အိမ်များ၌) သိမ်း ဆည်းသိမ်းထားခဲ့သော အရာများကိုလည်းကောင်း၊ အသင်တို့အား ထုတ်ဖော်ပြောကြားနိုင်အံ့။

အကယ်၍သာ အသင်တို့သည် ယုံကြည်သူများဖြစ်ကြပါမူ မလွဲဧကန် ဤအချက်၌ အသင်တို့အဘို့အရာ လုံလောက်စွာသော သက်သေလက္ခဏာ တန်ခိုးပြာဋိဟာ မုချရှိပေသည်။

၅၀။ ထို့ပြင် (အို-အချင်းတို့) အကျွန်ုပ်သည် မိမိအလျှင် ရှိနှင့်ပြီးဖြစ်သော တော်ရာတ်ကျမ်းကို ထောက်ခံအတည်ပြုသူ အဖြစ်လည်းကောင်း၊ အသင်တို့အဘို့အရာ [နဗီတမန်တော်မူစာ(အလိုင် ဟစ္စလာမ်၏ ပဋိပတ်ကျင့်စဉ်၌] "ဟရာမ်" ဟူ၍ မြစ်တားထားသော အရာများအနက်မှ အချို့ကို "ဟလာလ်" ဟူ၍ ခွင့်ပြုအံ့သောငှာ လည်းကောင်း (ပွင့်ခဲ့သည်၊) ထို့ပြင် အကျွန်ုပ်သည် အသင်တို့ထံသို့ အသင်တို့၏ အရှင်မြတ် အထံတော်မှပင် (လုံလောက် စွာသော) သက်သေလက္ခဏာ တန်ခိုးပြာဋိဟာ ကိုလည်း ဆောင်ယူခဲ့သည်။

وَمُصَدِّقًا لِّمَا بَيْنَ يَدَيَّ مِنَ التَّوْرَاةِ وَلِأُحِلَّ لَكُم بَعْضَ الَّذِي حُرِّمَ عَلَيْكُمْ ۚ وَجِئْتُكُم بِآيَةٍ مِّن رَّبِّكُمْ فَاتَّقُوا اللَّهَ وَأَطِيعُونِ ﴿٥٠﴾

သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့ကြကုန်၊ ၎င်းပြင် အကျွန်ုပ် ဟောပြောသော ဓမ္မဒေသနာ များကိုလည်း (တသဝေမတိမ်း) လိုက်နာဆောင်ရွက်ကြကုန်။

၅၁။ ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် အကျွန်ုပ်ကို မွေးမြူတော်မူသောအရှင်လည်း ဖြစ်တော်မူ၏။ အသင်တို့ကို မွေးမြူတော်မူသော အရှင်မြတ်လည်း ဖြစ်တော်မူ၏။ သို့ဖြစ်ပေရာ အသင်တို့သည် ထိုအရှင်မြတ်ကိုသာလျှင် ခဝပ်ကိုးကွယ်ကြကုန်။ ဤကား ဖြောင့်မတ်မှန်ကန်သော တရားလမ်းပင် ဖြစ်ချေသတည်း။

إِنَّ اللَّهَ رَبِّي وَرَبُّكُمْ فَاعْبُدُوهُ ۗ هَٰذَا صِرَاطٌ مُّسْتَقِيمٌ ﴿٥١﴾

فَلَمَّآ اَحَسَّ عِيۡسٰى مِنۡهُمُ الۡكُفۡرَ قَالَ مَنۡ اَنۡصَارِىۡۤ اِلَى اللّٰهِ‌ؕ قَالَ الۡحَـوَارِيُّوۡنَ نَحۡنُ اَنۡصَارُ اللّٰهِ‌ۚ اٰمَنَّا بِاللّٰهِ‌ۚ وَاشۡهَدۡ بِاَنَّا مُسۡلِمُوۡنَ ۝٥٢

၅၂။ တဖန် (နဗီတမန်တော်) အီစာ (အလိုင်ဟစ္စလာမ်)သည် ယင်း (အစ္စရာအီလီမျိုးနွယ်) များဘက်မှ သွေဖည် ငြင်းဆန်မှုကို တွေ့သိရသော အခါ *"အကျွန်ုပ်အား အလ္လာဟ် အရှင်မြတ်၏ လမ်းစဉ်၌ ကူညီစောင်မမည့်သူ မည်သူများ ရှိကြပါသနည်း"* [၁] ဟု မေးမြန်းလေသည်။(ထိုရောကာလ) *ဟဝါရီများက* [၂] "ကျွန်တော်မျိုးတို့သည် အလ္လာဟ်အရှင်(၏ သာသနာတော်ကို) ကူညီသောသူများ ဖြစ်ကြပါသည်။ ကျွန်တော်မျိုးတို့သည် အလ္လာဟ် အရှင်မြတ်ကို ယုံကြည်ကြပါပြီ။ သို့ဖြစ်ပါ၍ အသင်(နဗီတမန်တော်ကိုယ်တိုင်)ပင် ကျွန်တော်မျိုးတို့သည် အမိန့်နာခံသောသူများ ဖြစ်ကြောင်း သက်သေခံတော်မူပါ"ဟု ပြောဆိုကြကုန်၏။

---

(၁) တမန်တော်အီစာ(အလိုင်ဟစ္စလာမ်)သည် အစ္စရာအီလီမျိုးနွယ်တို့၏ငြင်းပယ်မှုကို တွေ့မြင်သောအခါ "အလ္လာဟ်အရှင်မြတ်အဘို့ ငါ့အားကူညီစောင်မမည့်သူ မည်သူများ ရှိကြပါသနည်းဟု" မေးမြန်းတော်မူလေသည်။

ဤမုက္ခပါဌ်တော်တွင် ပါရှိသော "အေ့လလ္လာဟိ"၏ အနက်သဘောကို အဋ္ဌကထာရှင်များသည် အောက်ပါအတိုင်း အမျိုးမျိုးအနက်ဖွင့်ကြသည်။

က။ အလ္လာဟ်အရှင်မြတ်၏ လမ်းစဉ်၌၊ ကြည့်-(ကုရ်တုဗီ)။

ခ။ အလ္လာဟ်အရှင်မြတ်နှင့် အတူတကွ၊

ဂ။ အလ္လာဟ်အရှင်မြတ်၌။

ဃ။ အလ္လာဟ်အရှင်မြတ်အဘို့။

င။ အလ္လာဟ်အရှင်မြတ်ထံတော်ပါးသို့။

(၂) "ဟဝါရီ" ဟူသောစကားသည် "ဟောင်ရ်" ဟူသော မူရင်းဓာတ်မှ ဆင်းသက်လာ၏။ "ဟာရ်"၏အဓိပ္ပါယ်မှာ ဖြူဆွတ်ခြင်း၊ အဝတ်ကိုလျှော်၍ ဖြူစင်အောင် ပြုလုပ်ခြင်းဟု ရသည်။ "ဟဝါရီ" ဟူသည် စေတနာဖြူစင်စွာဖြင့် ကူညီရိုင်းပင်းသောသူကို ဆိုသည်။

တမန်တော်အီစာအား ကူညီရိုင်းပင်းကြသော သူများကို "ဟဝါရီ" ဟူ၍ ခေါ်ဆိုရခြင်းအကြောင်းမှာ (က) စိတ်စေတနာ ဖြူစင်ခြင်းကြောင့်သော်လည်းကောင်း၊ (ခ) ဝတ်ဖြူစင်ကြယ်များကို ဝတ်ဆင်ခြင်းကြောင့် သော်လည်းကောင်း၊ (ဂ) ခဝါသည် ဖြစ်ခြင်းကြောင့်သော်လည်းကောင်း ဖြစ်တန်ရာ၏။

"အလ္လာဟ်အရှင်မြတ်၏ လမ်းစဉ်၌ငါ့အား ကူညီရိုင်းပင်းမည့်သူ မည်သူများ ရှိကြပါသနည်း" ဟု တမန်တော်အီစာ (အလိုင်ဟစ္စလာမ်)က မေးမြန်းတော်မူသည့်အခါ "ဟဝါရီ" များက ကျွန်တော်မျိုးတို့သည် အလ္လာဟ်အရှင်မြတ် (၏သာသနာ)ကို ကူညီရိုင်းပင်းမည့်သူများ ဖြစ်ကြပါသည်ဟု ဖြေကြားကြလေသည်။

رَبَّنَآ اٰمَنَّا بِمَآ اَنْزَلْتَ وَاتَّبَعْنَا الرَّسُوْلَ فَاكْتُبْنَا مَعَ الشّٰهِدِيْنَ ﴿٥٣﴾

၅၃။ (ထို့နောက် ယင်း ဟဝါရီတို့က) "အို- ကျွန်တော်မျိုးတို့၏ အရှင်မြတ်၊ ကျွန်တော်မျိုးတို့သည် အရှင်မြတ် ထုတ်ပြန် ပို့ချတော်မူသော အမိန့်တော်များကို ယုံကြည်၍ (အရှင်မြတ် စေလွှတ်တော်မူသော) ရစူလ်တမန်တော် [အီစာ (အလိုင်ဟစ္စလာမ်)၏ ဩဝါဒများကို(လည်း တသွေမတိမ်း)] လိုက်နာကြပါပြီ။ သို့ဖြစ်ပါ၍ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား သက်သေခံသူအပေါင်းနှင့်အတူ ရေးမှတ်တော်မူပါ" (ဟုအလ္လာဟ်အရှင်မြတ် အထံတော်၌ ဆက်လက်၍ ဆုတောင်းပတ္ထနာပြုကြကုန်သတည်း)။

وَمَكَرُوْا وَمَكَرَ اللّٰهُ ۭ وَاللّٰهُ خَيْرُ الْمٰكِرِيْنَ ﴿٥٤﴾

၅၄။ ယင်း (အစ္စရာအီလီ မျိုးနွယ်တို့အနက် တမန်တော်အီစာအား မယုံကြည်သော) သူတို့သည်လည်း [နဗီတမန်တော် အီစာ (အလိုင်ဟစ္စလာမ်)ကို သတ်ဖြတ်ကြရန် အလို့ငှာ ပရိယာယ်မာယာ ဝေဝုစ်အားဖြင့်] *လိမ္မာပါးနပ်စွာ ကြံစည်ခဲ့ကြ၏။*[၁] အလ္လာဟ်အရှင်မြတ်သည်လည်း [နဗီတမန်တော် အီစာ(အလိုင်ဟစ္စလာမ်)အား ယင်းသူတို့၏ ဘေးရန်ခပ်သိမ်းတို့မှ ကင်းလွတ်စေတော်မူခြင်းငှာ] ပရိယာယ် ဝေဝုစ်ဖြင့်ပင် ကြံဆောင်တော်မူခဲ့လေသည်။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် ပရိယာယ် ဝေဝုစ်ဖြင့် ကြံဆောင်သူများထက် အကောင်းဆုံး ကြံဆောင်တော်မူနိုင်သော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) တမန်တော်အီစာ (အလိုင်ဟစ္စလာမ်)အား မယုံကြည်သော ယဟူဒီများသည် တမန်တော်၏ ဩဝါဒများကို ငြင်းဆန်ခဲ့ကြလေ၏။ တမန်တော်အား ဒုက္ခအမျိုးမျိုး ပေးခဲ့ကြ၏။ နောက်ဆုံးတွင် တမန်တော်အား သတ်ဖြတ်ရန်ပင် ကြံစည်ခဲ့ကြလေသည်။

တမန်တော်အီစာအားသတ်ဖြတ်ရန်ကြံစည်မှုသည် ဆီရီယာနိုင်ငံ ပါလက်စတိုင်းပြည်နယ်တွင် ➤➤

၅၅။ တရံရောအခါဝယ် အလ္လာဟ်အရှင်မြတ်က အို-အီစာ(အသင်သည် မည်သို့မျှစိုးရိမ်ကြောင့်ကြခြင်း မရှိလေနှင့်) မုချဧကန် ငါအရှင်မြတ်သည် အသင့်ကို (သတ်မှတ်ထားသောအချိန်၌)သေစေတော်မူအံ့၊[၁] ၎င်းပြင် အသင့်အား မိမိအထံတော် (ကောင်းကင်ဘုံ) သို့ ပင့်မယူတော်မူအံ့။ ၎င်းပြင် မယုံမကြည်သွေဖည် ငြင်းပယ်သော ကာဖိရ်တို့(၏ စွပ်စွဲ ချက်တို့)မှ သန့်ရှင်းစင်ကြယ်၍ လွတ်ကင်းစေတော်မူအံ့။ ၎င်းပြင် အသင်၏ဩဝါဒကို လိုက်နာသူတို့အား (အသင့်ကို) မယုံမကြည် ငြင်းဆန်သော ကာဖိရ်တို့အထက်ဝယ် ကိယာမတ်နေ့အထိ လွှမ်းမိုးစေတော်မူအံ့။

إِذْ قَالَ اللَّهُ يَٰعِيسَىٰٓ إِنِّى مُتَوَفِّيكَ وَرَافِعُكَ إِلَىَّ وَمُطَهِّرُكَ مِنَ الَّذِينَ كَفَرُوا۟ وَجَاعِلُ الَّذِينَ اتَّبَعُوكَ فَوْقَ الَّذِينَ كَفَرُوٓا۟ إِلَىٰ يَوْمِ الْقِيَٰمَةِ ۖ ثُمَّ إِلَىَّ مَرْجِعُكُمْ فَأَحْكُمُ بَيْنَكُمْ

---

➤➤ ဖြစ်ပေါ်ခဲ့၏။ ဆီရီယာနိုင်ငံသည် ထိုအချိန်တွင် ရောမဘုရင်၏ လက်အောက်တွင် ရောက်ရှိနေ၏။ ရောမဘုရင်သည် ဆီရီယာနိုင်ငံကို အုပ်ချုပ်ရန် ဘုရင်ခံချုပ်တစ်ဦးကို ခန့်အပ်ထား၏။ ထိုဘုရင်ခံချုပ်၏ လက်အောက်တွင် ပါလက်စတိုင်းပြည်နယ်၌ ဘုရင်ခံတဦးရှိ၏။

ယဟူဒီများသည် မိမိတို့၏ အမှုအခင်းများနှင့် စပ်လျဉ်း၍ မိမိတို့၏ သာသနာ့ ခုံရုံးများတွင် တရားစွဲဆို စီရင်ဆုံးဖြတ်ပိုင်ခွင့်ရရှိထားကြ၏။ သို့ရာတွင် မိမိတို့၏ သာသနာ့ခုံရုံးမှ ပြစ်ဒဏ်ပေးရန် စီရင်ချက်ချမှတ် လိုက်သောတရားခံများအပေါ်တွင် ပြစ်ဒဏ်များကို အတည်ဖြစ်စေရန်အလို့ငှာ ထိုတရားခံများကို ရောမအစိုးရ၏ တရားရုံးများသို့ ပို့ဆောင်ကြရလေသည်။ ယဟူဒီသာသနာ့ ခုံရုံးတွင် သာသနာကို ဖောက်ဖျက်သူတို့အား သတ်ဖြတ်စေဟု စီရင်ချက်ချမှတ်ပိုင်ခွင့် ရှိလင့်ကစား ထိုစီရင်ချက်ကို အတည်ဖြစ်စေသော အာဏာသည် ရောမအစိုးရ၏ တရားရုံးများ၌သာလျှင် ရှိပေသည်။ ရောမဘုရင် အစိုးရသည် သတ်ရန် အမိန့်ကျသူတို့အား လက်ဝါးကပ်တိုင်တွင် တင်၍ သတ်လေ့ရှိသည်။

ယဟူဒီများသည် ဦးစွာပဌမ တမန်တော် အီစာအပေါ်၌ သာသနာဖျက်ဆီးမှုကို အကြောင်းပြု၍ မိမိတို့၏ သာသနာ့ခုံရုံးတွင် တရားစွဲဆိုခဲ့ကြ၏။ ထို့နောက်တဖန် တမန်တော်အီစာ ပေါ်၌ တိုင်းပြည်ပုန်ကန်မှုကို အကြောင်းပြု၍ ရောမအစိုးရ၏ တရားရုံးတွင် တမန်တော်အား တရားစွဲဆိုကြခဲ့ပြန်၏။

(၁) "မုတဝဖ္ဖီက" ဟူသောပုဒ်သည် "တာဖ္ဖီ" ဟူသော မူရင်းဓါတ်မှ ဆင်းသက်လာ၏။ "တဝဖ္ဖီ"၏ အနက်အဓိပ္ပါယ်မှာ (၁) အပြည့်အစုံယူခြင်း၊ (၂) သေစေခြင်း ဟုဖြစ်သည်။

"အင်နီမုတဝဖ္ဖီက" ဟူသောဝါကျတွင် ဤအနက်နှစ်ရပ်လုံးသည် အကျုံးဝင်လျက်ရှိသည်။ အပြည့်အစုံယူခြင်းဟူသော အနက်ကိုယူသော် "အင်နီမုတဝဖ္ဖီက" ၏ အလိုသဘောမှာ ငါအရှင်သည်သင့်အား အပြည့်အစုံ ကိုယ်ခန္ဓာနှင့်တကွ ယူဆောင်တော်မူအံ့ ဟူ၍ဖြစ်သည်။ သေစေခြင်းဟူသော အနက်ကို ယူသည်ရှိသော် "အင်နီမုတဝဖ္ဖကီ" ၏အလိုသဘောမှာ ငါအရှင်သည် အသင့်အား သတ်မှတ်ထားသော အချိန်ပြည့်မှ သေစေတော်မူအံ့ ဟူ၍ဖြစ်သည်။

فِيمَا كُنتُمْ فِيهِ تَخْتَلِفُونَ ﴿٥٥﴾

ပြီးနောက် တဖန် အသင်တို့၏ (နောက်ဆုံး) ပြန်လည်ရာ စခန်းသည် ငါအရှင်မြတ်၏ အထံတော်တွင် ရှိနေပေရာ ငါအရှင်မြတ်သည် အသင်တို့ အချင်းချင်း အကွဲအလွဲ ရှိခဲ့သော ကိစ္စများနှင့် စပ်လျဉ်း၍ စီရင်ဆုံးဖြတ်တော်မူအံ့။

فَأَمَّا الَّذِينَ كَفَرُوا فَأُعَذِّبُهُمْ عَذَابًا شَدِيدًا فِي الدُّنْيَا وَالْآخِرَةِ وَمَا لَهُم مِّن نَّاصِرِينَ ﴿٥٦﴾

၅၆။ သို့ဖြစ်လေရာ မယုံမကြည် သွေဖည်ငြင်းပယ်သော မိစ္ဆာဒိဋ္ဌိတို့ကိုမူကား ငါအရှင်မြတ်သည် ယင်းသူတို့အား ပစ္စုပ္ပန်ဘဝ၌လည်းကောင်း၊ နောင်တမလွန်ဘဝ၌လည်းကောင်း၊ ပြင်းထန်စွာသော ပြစ်ဒဏ်ကို ခတ်တော်မူအံ့။ ထိုမှတပါးတုံ ယင်းသူတို့အား ကူညီမိုင်းမမည့်သူဟူ၍လည်း တဦးတယောက်မျှ ရှိလိမ့်မည်မဟုတ်ပေ။

وَأَمَّا الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ فَيُوَفِّيهِمْ أُجُورَهُمْ ۗ وَاللَّهُ لَا يُحِبُّ الظَّالِمِينَ ﴿٥٧﴾

၅၇။ သို့ရာတွင် ယုံကြည်ခြင်း သဒ္ဓါတရားထားရှိကြ၍ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်ကြကုန်သော သူတို့မှာမူကား ထိုအရှင်မြတ်သည် ယင်းသူတို့အား (ယင်းသူတို့ ပြုလုပ်ဆောက်တည်ခဲ့ကြသော အကျင့်သီလများ၏) အကျိုးကျေးဇူးများကို ပြည့်စုံစွာ ပေးသနားတော်မူလတ္တံ့။ ၎င်းပြင် အလ္လာဟ် အရှင်မြတ်သည် မတော်မတရား ကျူးလွန် စော်ကား သူတို့အား နှစ်သက်တော်မူသည် မဟုတ်ချေ။

ذَٰلِكَ نَتْلُوهُ عَلَيْكَ مِنَ الْآيَاتِ وَالذِّكْرِ الْحَكِيمِ ﴿٥٨﴾

၅၈။ ဤ(အတ္ထုပ္ပတ္တိများ)သည် (အသင်နဗီဖြစ်ခြင်း၏) သက်သေလက္ခဏာများ အနက်မှလည်း ဖြစ်၏။ ဉာဏ်ပညာနှင့်ပြည့်စုံသော အကြောင်းအရာများအနက်မှလည်း ဖြစ်ပေ၏။ ထိုအကြောင်းအရာများကို ငါအရှင်သည် အသင့်အား (ဝဟီဖြင့်) ရွတ်ဘတ်ကြားနာ ပြောပြတော်မူသည်။

إِنَّ مَثَلَ عِيسَىٰ عِندَ اللَّهِ
كَمَثَلِ آدَمَ ۖ خَلَقَهُ مِن تُرَابٍ
ثُمَّ قَالَ لَهُ كُن فَيَكُونُ ﴿٥٩﴾

၅၉။ အမှန်စင်စစ် အလ္လာဟ် အရှင်မြတ်၏အထံတော်၌ (နဗီတမန်တော်)အီစာ၏ (ထူးဆန်းသော) အဖြစ်ကား (နဗီတမန်တော်) အာဒမ်၏ (ထူးဆန်းသော) အဖြစ်ကဲ့သို့ပင်တည်း။ ထိုအရှင်မြတ်သည် (ဦးစွာပဌမ) ထို(နဗီတမန်တော် အာဒမ်)အား မြေကြီးဖြင့် ဖန်ဆင်းတော်မူခဲ့လေသည်၊ ပြီးနောက် ထိုအရှင်မြတ်သည် ထိုတမန်တော် အာဒမ်(၏ပုံသဏ္ဌာန်)ကို ဖြစ်စေဟုမိန့်ကြားတော်မူခဲ့ရာ ထိုတမန်တော်အာဒမ်(၏ပုံသဏ္ဌာန်)သည် (အသက်ထင်ရှားရှိသောလူသတ္တဝါ)ဖြစ်လာခဲ့ရလေသတည်း။

الْحَقُّ مِن رَّبِّكَ فَلَا
تَكُن مِّنَ الْمُمْتَرِينَ ﴿٦٠﴾

၆၀။ (အိုး- နဗီတမန်တော် ဤအဆိုပါ နဗီတမန်တော်အီစာ၏) အတ္ထုပ္ပတ္တိ အကြောင်းအရာများသည် အသင့်အား မွေးမြူတော်မူသော အရှင်မြတ်၏ အထံတော်မှ (ထုတ်ပြန် မိန့်ကြားတော်မူသော) အတ္ထုပ္ပတ္တိ အကြောင်းအရာများပင် ဖြစ်ပေရာ အသင်သည် ဒွိဟ သံသယရှိသူတို့အနက် အပါအဝင် မဖြစ်လေနှင့်။

فَمَنْ حَاجَّكَ فِيهِ مِن بَعْدِ
مَا جَاءَكَ مِنَ الْعِلْمِ فَقُلْ تَعَالَوْا
نَدْعُ أَبْنَاءَنَا وَأَبْنَاءَكُمْ
وَنِسَاءَنَا وَنِسَاءَكُمْ وَأَنفُسَنَا

၆၁။ သို့ဖြစ်ပေရာ (အိုး-နဗီတမန်တော်) အသင့်ထံ၌ (ငါအရှင်မြတ် အထံတော်မှ မှန်ကန်သော) အသိတရား ရောက်ရှိလာပြီးသည့် နောက်သော်မှပင်၊ အကြင်သူ တစ်ဦးတစ်ယောက်သည် ယင်း (နဗီတမန်တော်အီစာ)နှင့်ပတ်သက်၍ အသင့်အား *အချေအတင်ပြောဆိုခဲ့ပါမူ၊*[၁] အသင်သည် (ယင်းသူတို့အား)("ဟယ်-အချင်းတို့") လာကြကုန်လော့။

---

(၁) ဟစ်ဂျ်ရီသက္ကရာဇ် ၉-ခုနှစ်တွင် တမန်တော်မြတ် မုဟမ္မဒ်(ဆွာလလ္လာဟု အလိုင်ဟိ ဝစလ္လာမ်)သည် နဂျ်ရာန်မြို့ရှိ ခရစ်ယာန်ဘာသာဝင်များထံ အစ္စလာမ်သာသနာရေးနှင့်စပ်လျဉ်း၍ စာချွန်တော် ပေးပို့လိုက်သည့်အခါ နဂျ်ရာန်မြို့နယ်မှ ခရစ်ယာန်ဘာသာဝင်အကြီးအကဲ ၁၄-ဦးတို့သည် တမန်တော်မြတ်ထံသို့ လာရောက်ကြပြီး သာသနာရေးဆိုင်ရာ စကားရပ်များကို ဆွေးနွေးကြ၏။ ➤➤

وَأَنفُسَكُمْ ثُمَّ نَبْتَهِلْ فَنَجْعَل لَّعْنَتَ اللَّهِ عَلَى الْكَٰذِبِينَ ﴿٦١﴾

(အသင်တို့နှင့်) အကျွန်ုပ်တို့သည် (ပူးပေါင်းကာ) အကျွန်ုပ်တို့၏သားမြေးတို့ကိုလည်းကောင်း၊ အသင်တို့၏သားမြေးတို့ကိုလည်းကောင်း၊ အကျွန်ုပ်တို့၏မိန်းမများကို လည်းကောင်း၊ အသင်တို့၏ မိန်းမများကို လည်းကောင်း၊ ခေါ်ယူ (စုရုံးစေ)ပြီး အကျွန်ုပ်တို့ကိုယ်တိုင်နှင့် အသင်တို့ကိုယ်တိုင်လည်း (ပါဝင်ကြကုန်အံ့)။ ထို့နောက် အကျွန်ုပ်တို့(နှင့် အသင်တို့)သည် (ပူးပေါင်းကာ အလ္လာဟ်အရှင်မြတ် အထံတော်၌ ဤအချေအတင် ပြောဆိုရာတွင်) "မုသားပြောဆိုသူတို့ အပေါ်ဝယ် အလ္လာဟ်အရှင်မြတ်၏ လအ်နတ် (အရှင်မြတ်၏ ကရုဏာတော်မှ ကင်းဝေးခြင်းသည်) ကျရောက်ပါစေသား" ဟူ၍ စိတ်ရောကိုယ်ပါ တောင်းပန် အသနားခံကြကုန်အံ့ ဟု ပြောဆို (ကျေညာ)ပါလေ။

➤➤ နောက်ဆုံးတွင် တမန်တော် အီစာ(အလိုင်ဟစ္စလာမ်)သည် ကိုးကွယ်ရာအရှင်တစ်ပါးဖြစ်သည်၊ မဖြစ်သည်ဟူသောပြဿနာကို အချေအတင်ပြောဆိုကြ၏။ ထိုအချိန်တွင် အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းလာ ဤမုဗာရက္ခပါဠ်တော်(၃း၆၀)ကို ထုတ်ပြန်ချမှတ်တော်မူခဲ့လေသည်။ တမန်တော်အီစာနှင့် ပတ်သက်၍ အစ္စလာမ်သာသနာ၏ သဘောထားကား ရှင်းလင်းပြတ်သားလှ၏၊ ထုတ်ဖော်ရေးသားပြရန်ပင်မလိုပေ။ သို့ရာတွင် နဂျ်ရာန်မှလာကြသော ထိုခရစ်ယာန်ဘာသာဝင်အကြီးအကဲများမှာမူကား တမန်တော်အီစာသည် ကိုးကွယ်ရာအရှင်ဖြစ်သည်ဟူသော မိမိတို့၏ရှိရင်းစွဲ ယုံကြည်ယူဆချက်အပေါ်၌ပင် ဖွတ်မိုတ်၍နေကြလေသည်။ နောက်ဆုံးတွင် တမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အလ္လာဟ်အရှင်မြတ်ထံတော်မှ ထုတ်ပြန်ချမှတ်တော်မူသောမုက္ခပါဠ်တော်အရ ထိုခရစ်ယာန်ဘာသာဝင် အကြီးအကဲတို့အား အချင်းတို့၊ ငါတို့သည် ဤပြဿနာနှင့်စပ်လျဉ်း၍ အချေအတင် အကြီးအကျယ်ပြောဆိုပြီးကြပြီ၊ ယခုငါတို့သည် မိမိတို့ရင်းနှီးသော ဆွေမျိုးသားချင်းတို့အား အသီးသီးခေါ်ဆောင်ပြီး မမှန်ကန်သောသူများသည် အလ္လာဟ်အရှင်မြတ်၏ကရုဏာတော်မှ ကင်းဝေးပါစေသတည်းဟု အလ္လာဟ်အရှင်မြတ်အထံတော်၌ ကိုယ်နှုတ်နှလုံး သုံးပါးလုံးဖြင့် အပြိုင်အဆိုင် လက်တွေ့ဆုတောင်း အဓိဋ္ဌာန်ပြုကြစို့ ဟု ပြောကြားတော်မူခဲ့လေသည်။ (ယင်းကဲ့သို့ ဆုတောင်းခြင်းကို "မုဗာဟလတ်"ဟုခေါ်သည်) ထိုကဲ့သို့ ပြောကြားတော်မူပြီး တမန်တော်သည် သမီးတော်ဖာတွိမဟ်၊ မြေးတော်ဟာစန်၊ ဟုစိုင်နှင့် သားမက်တော် အလီသခင်တို့အား ခေါ်ဆောင်၍ ဆုပန်ကြားရန် အသင့်ကြွတော်လာမူလေသည်။ ထိုအချိန်တွင် ခရစ်ယာန်ဘာသာဝင် အကြီးအကဲတို့သည် မိမိတို့အချင်းချင်း တိုင်ပင်ဆွေးနွေး၍ တမန်တော်မြတ်နှင့် ပြိုင်ဆိုင်ကာ ဆုပန်ကြားခြင်း မပြုဝံ့ကြသဖြင့် အစ္စလာမ်အစိုးရ၏ ထိန်းသိမ်းစောင့်ရှောက်ခြင်းကို ခံယူ၍ အစ္စလာမ်အစိုးရအား အခွန်တော်ဆက်ရန် သဘောတူသွားကြလေသည်။ ကြည့်-မာရိုဒီ။

إِنَّ هَٰذَا لَهُوَ الْقَصَصُ الْحَقُّ ۚ وَمَا مِنْ إِلَٰهٍ إِلَّا اللَّهُ ۚ وَإِنَّ اللَّهَ لَهُوَ الْعَزِيزُ الْحَكِيمُ ﴿٦٢﴾

၆၂။ မုချဧကန် ဤ (အဆိုပါ) အတ္ထုပ္ပတ္တိ အကြောင်းအရာ များသည်သာလျှင် စင်စစ်အားဖြင့် မှန်ကန်သော အတ္ထုပ္ပတ္တိ အကြောင်းအရာများတည်း။ အမှန်စင်စစ် (ဧကေဝတစ်ဆူတည်းသော) အလ္လာဟ် အရှင်မြတ် မှတပါး အခြား ခဝပ်ကိုးကွယ်ရာ အရှင်ဟူ၍အလျှင်းမရှိပြီ။ ၎င်းပြင် မုချဧကန် ထို အလ္လာဟ်အရှင်မြတ်သည်သာလျှင် စင်စစ်အားဖြင့် တန်ခိုးအာနုဘော်ဖြင့် လွှမ်းမိုးတော် မူသောအရှင်၊ အကျိုးအကြောင်း ဆင်ခြင်တုံဉာဏ်နှင့် ပြည့်စုံတော် မူသောအရှင် ဖြစ်တော်မူပေသတည်း။ [၁]

فَإِن تَوَلَّوْا فَإِنَّ اللَّهَ عَلِيمٌ بِالْمُفْسِدِينَ ﴿٦٣﴾

၆၃။ သို့ဖြစ်လေရာ (ဤရွေ့ဤမျှ ဖွင့်ဟမိန့်ဆို ထားတော်မူပြီးသည့်နောက်သော်မှပင်) အကယ်၍သာ ယင်း(ခရစ်ယာန်)တို့သည် မျက်နှာလွှဲ၍ ကျောခိုင်း သွားကြပါမူ၊ မုချဧကန် အလ္လာဟ်အရှင်မြတ်သည် ဖျက်ဆီးသူအပေါင်းတို့ကို အကြွင်းမဲ့သိရှိတော်မူသော အရှင်မြတ်ပင်တည်း။

قُلْ يَا أَهْلَ الْكِتَابِ تَعَالَوْا إِلَىٰ كَلِمَةٍ سَوَاءٍ بَيْنَنَا وَبَيْنَكُمْ أَلَّا نَعْبُدَ إِلَّا اللَّهَ

၆၄။ (အို-နဗီ) အသင်သည် (ယဟူဒီနှင့် ခရစ် ယာန်တို့အား) ပြောကြားပါလေ၊ အို-ကျမ်းဂန် ရရှိသူအပေါင်းတို့၊ အသင်တို့သည် အကျွန်ုပ်တို့နှင့် အသင်တို့ကြား၌ (အားလုံး လက်ခံထားသည့်) တူညီသော စကားဘက်သို့လာကြကုန်၊

---

(၁) တမန်တော်အီစာ (အလိုင်ဟစ္စလာမ်)နှင့် ပတ်သက်၍ ကုရ်အာန်ကျမ်းလာ ဤအတ္ထုပ္ပတိများသည်သာလျှင် မှန်ကန်သော အတ္ထုပ္ပတိများဖြစ်သည်။ ဤအတ္ထုပ္ပတိများတွင် တမန်တော်အီစာသည် လူသားတစ်ဦးမျှဖြစ်ကြောင်း အတည့်အလင်း မိန့်ဆိုထားသည်။ "အလ္လာဟ်အရှင်မြတ်မှ တပါး အခြားကိုးကွယ်ရာ အရှင် အလျှင်းမရှိ"။ သို့ဖြစ်ပေရာ တမန်တော်အီစာသည် အဘယ်မှာလျှင် ကိုးကွယ်ရာအရှင်ဖြစ်နိုင်အံ့နည်း။ "မုချဧကန် အလ္လာဟ်အရှင်မြတ်သည်သာလျှင် အနန္တတန်ခိုးတော်ဖြင့် လွှမ်းမိုးတော်မူသော အရှင်၊ အကျိုးအကြောင်း ဆင်ခြင်တုံဉာဏ်နှင့် ပြည့်စုံတော်မူသော အရှင်ဖြစ်တော်မူသည်"။ ဤသည်တို့ကား အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များတည်း။ တမန်တော်အီစာ၏ ဂုဏ်ပုဒ်များ မဟုတ်ချေ။

وَلَا نُشْرِكَ بِهٖ شَيْـًٔا وَّلَا يَتَّخِذَ بَعْضُنَا بَعْضًا اَرْبَابًا مِّنْ دُوْنِ اللّٰهِ ۭ فَاِنْ تَوَلَّوْا فَقُوْلُوا اشْهَدُوْا بِاَنَّا مُسْلِمُوْنَ ﴿٦٤﴾

(ထိုစကားသည်ကား) ငါတို့သည် အလ္လာဟ် အရှင်မြတ်မှတပါး အခြား မည်သည့် အရာကိုမျှ မခစ်မကိုးကွယ်ခြင်း၊ ငါတို့သည် တစုံတခုသော အရာကိုမျှ ထိုအရှင်မြတ်နှင့် တွဲဘက်ယှဉ်ဘက်ဟူ၍ မပြုခြင်း၊ ငါတို့အနက် အချို့သည် အလ္လာဟ် အရှင်မြတ်ကို ဖဲကြဉ်၍ အချို့သောသူများကို မွေးမြူတော်မူသော အရှင်များဟူ၍ မပြုလုပ်ခြင်း (ပင်တည်း)။

(ယင်းကဲ့သို့ ဘိတ်ခေါ်ပြီးသည့် နောက်သော်မှပင်) အကယ်၍ ထိုသူတို့သည် သွေဖည်ကျောခိုင်းသွားကြပါမူ (အို-မွတ်စ်လင်မ် အပေါင်းတို့) အသင်တို့က (ထိုသူတို့အား၊ အချင်းတို့) ကျွန်ုပ်တို့သည် (အလ္လာဟ် အရှင်မြတ်၏) အမိန့်တော်များကို မုချနာခံသော မွတ်စ်လင်မ်များပင် ဖြစ်ကြောင်း အသင်တို့ကိုယ်တိုင် သက်သေခံကြကုန်ဟု ပြောဆိုကြကုန်လော့။

يٰٓاَهْلَ الْكِتٰبِ لِمَ تُحَاۗجُّوْنَ فِيْٓ اِبْرٰهِيْمَ وَمَآ اُنْزِلَتِ التَّوْرٰىةُ وَالْاِنْجِيْلُ اِلَّا مِنْۢ بَعْدِهٖ ۭ اَفَلَا تَعْقِلُوْنَ ﴿٦٥﴾

၆၅။ အို-ရှေးအထက် ကျမ်းဂန်များကို ရရှိသူအပေါင်းတို့၊ အသင်တို့သည် တမန်တော် အီဗ်ရာဟီမ်နှင့်ပတ်သက်၍ (ထိုတမန်တော်သည်ယဟူဒီဖြစ်သည်ဟူ၍၎င်း၊ ခရစ်ယာန်ဖြစ်သည်ဟူ၍၎င်း) အဘယ်ကြောင့် အချေအတင် ပြောဆိုငြင်းခုံကြသနည်း။ အမှန်စင်စစ် "တောင်ရာတ်" နှင့် "အင်န်ဂျီလ်" ကျမ်းများသည် ထိုတမန်တော် အီဗ်ရာဟီမ်၏နောက် (အတန်ကြာမှပင်) ကျရောက်လာသောကျမ်းဂန်များဖြစ်၏။ (ယဟူဒီနှင့်ခရစ်ယာန်ဘာသာ အယူဝါဒများသည် ထိုကျမ်းဂန်များကျရောက်ပြီးနောက်တွင်မှ ဖြစ်ပေါ်လာသောဘာသာ အယူဝါဒများသာ ဖြစ်ပေ

ရာ တမန်တော် အီဗ်ရာဟီမ်သည် အဘယ်သို့လျှင် ယဟူဒီ၊ သို့မဟုတ် ခရစ်ယာန်ဘာသာဝင် ဖြစ်နိုင် အံ့နည်း၊ ဤမျှ ထင်ရှားသောစကားကိုပင်) အသင်တို့ မသိမမြင် မဆင်ခြင်ကြပါသလော။

هَاَنْتُمْ هٰۤؤُلَاۤءِ حَاجَجْتُمْ فِيْمَا لَكُمْ بِهٖ عِلْمٌ فَلِمَ تُحَاۤجُّوْنَ فِيْمَا لَيْسَ لَكُمْ بِهٖ عِلْمٌ ۗ وَاللّٰهُ يَعْلَمُ وَاَنْتُمْ لَا تَعْلَمُوْنَ ﴿٦٦﴾

**၆၆။** ဟယ်-အချင်းတို့၊ အသင်တို့သည် အကြင် အကြောင်းနှင့်စပ်လျဉ်း၍ *အချေအတင် ပြောဆိုခဲ့ကြ ချေပြီ။* [၁] (ထိုအကြောင်းနှင့်စပ်လျဉ်း၍) အသင်တို့၌ အနည်းငယ်မျှသာ အသိတရားရှိခဲ့၏။ ယခုတဖန် မိမိတို့လုံးဝမသိသော ကိစ္စနှင့်စပ်လျဉ်း၍ အဘယ် ကြောင့် အသင်တို့ အချေအတင် ငြင်းခုံပြောဆို ကြပြန်သနည်း။ စင်စစ်သော်ကား အလ္လာဟ် အရှင် မြတ်သည် (အရာခပ်သိမ်းကို လုံးဝဥဿုံ အလုံးစုံ) သိတော်မူ၏၊ အသင်တို့မူကား (အဘယ် တစုံတရာ ကိုမျှ အတိအကျ) မသိနားမလည်ကြချေ။

---

**(၁) <u>ထုတ်ပြန်ပို့ချတော်မူသည့် အကြောင်း။</u>**

နဂျ်ရာန်မြို့မှ ခရစ်ယာန် အကြီးအကဲများနှင့် ယဟူဒီဘာသာဝင် ပညာရှင်များသည် တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လာမ်)ထံတွင် စုရုံးကြသည့်အခါ ယဟူဒီပညာရှင်များက တမန်တော် အီဗ်ရာဟီမ်သည် ယဟူဒီဖြစ်သည်ဟူ၍၎င်း၊ ခရစ်ယာန်များကလည်း တမန်တော် အီဗ်ရာဟီမ်သည် ခရစ်ယာန် ဖြစ်သည်ဟူ၍၎င်း အချင်းချင်း ငြင်းခုံကြလေသည်။ ထိုအခါ အလ္လာဟ် အရှင်မြတ်သည် ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော် (၃း၆၄-၆၇)ကို ထုတ်ပြန်ပို့ချတော်မူလေသည်။

ယဟူဒီများနှင့် ခရစ်ယာန်များသည် တမန်တော်အီစာ (အလိုင်ဟစ္စလာမ်)နှင့် ပတ်သက်၍ အချေအတင် ငြင်းခုံခဲ့ကြ၏။ ခရစ်ယာန်များသည်သဒ္ဓါလွန်ပြီး တမန်တော်အီစာအား အလ္လာဟ်အရှင်မြတ်၏သားတော်ဟူ၍၎င်း၊ ကိုးကွယ်ရာ အရှင်တစ်ပါး ဖြစ်သည်ဟူ၍၎င်း ပြောဆိုခဲ့ကြ၏။ ယဟူဒီများကမူ တမန်တော်အီစာအား တမန်တော်ဟူ၍ မယုံကြည်သည့်အပြင် ထိုတမန်တော်ကိုပင် ပြစ်တင်ရှုတ်ချကဲ့ရဲ့ ပြောဆိုခဲ့ကြ၏။ ယင်းသို့ ဖြစ်ခြင်းကြောင့် ယဟူဒီများနှင့် ခရစ်ယာန်များသည် အမှားကြီးမှားခဲ့ကြလေပြီ။

ယခုတဖန် ယင်းသူတို့သည် တမန်တော်အီဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)နှင့် ပတ်သက်၍ အချင်းချင်း ငြင်းခုံကြပြန်ပြီ။ ယဟူဒီများက တမန်တော် အီဗ်ရာဟီမ်သည် ယဟူဒီဖြစ်သည်၊ ငါတို့သည် တမန်တော် အီဗ်ရာဟီမ်၏ လမ်းစဉ်အပေါ်၌ တည်ရှိကြ၏ဟု ပြောဆိုကြ၏။ ခရစ်ယာန်များကလည်း တမန်တော် အီဗ်ရာဟီမ်သည် ခရစ်ယာန်ဖြစ်သည်။ ငါတို့သည် တမန်တော် အီဗ်ရာဟီမ်၏ လမ်းစဉ်ပေါ်၌ တည်ရှိကြ၏ဟု ပြောဆိုကြ၏။ အမှန်သော်ကား ယင်းသူတို့နှစ်ဦး၏ ပြောဆိုခြင်းများသည် အမှားစင်စစ်ဖြစ်၏။ ➤➤

مَا كَانَ إِبْرٰهِيمُ يَهُودِيًّا وَّلَا نَصْرَانِيًّا وَّلٰكِنْ كَانَ حَنِيفًا مُّسْلِمًا ۗ وَمَا كَانَ مِنَ الْمُشْرِكِينَ ﴿٦٧﴾

၆၇။ တမန်တော် အီဗ်ရာဟီမ်သည် ယဟူဒီလည်း မဟုတ်ခဲ့ပေ၊ ခရစ်ယာန်လည်း မဟုတ်ခဲ့ပေ၊ အမှန်စင်စစ်အားဖြင့် "ဟနီဖ်" [၁] ဖြောင့်မတ်မှန်ကန်သော၊ "မွတ်စ်လင်မ်" အမိန့်တော်နာခံသော ပုဂ္ဂိုလ်မြတ် တစ်ပါးသာလျှင် ဖြစ်ခဲ့ပေသည်။

ထိုတမန်တော် (အီဗ်ရာဟီမ်)သည် "မုရှ်ရိက်" ဘုရားအများ ကိုးကွယ်သော သူများတွင် အပါအဝင်လည်း မဟုတ်ခဲ့ပေ။

---

➤➤ အဘယ်ကြောင့်ဟူမူ ယဟူဒီနှင့် ခရစ်ယာန်ဟူသောအမည်များသည် တောင်ရတ်နှင့် အင်န်ဂျီလ်ကျမ်းများ ကျရောက်ပြီးသည့် နောက်မှ ပေါ်ပေါက်လာသော အမည်များသာ ဖြစ်ချေသည်။ ထိုကျမ်းဂန်များသည် တမန်တော် အီဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်) ပွင့်ပြီးသည့်နောက် အချိန်အတန်ကြာမှပင် ကျရောက်လာသော ကျမ်းဂန်များဖြစ်ပေရာ တမန်တော်အီဗ်ရာဟီမ်သည် အဘယ်သို့လျှင် ယဟူဒီ သို့မဟုတ် ခရစ်ယာန်ဖြစ်နိုင်အံ့နည်း။

ယဟူဒီနှင့် ခရစ်ယာန်များကဲ့သို့ပင် မုရှ်ရိက်တို့ကလည်း ငါတို့သည် တမန်တော် အီဗ်ရာဟီမ်၏ လမ်းစဉ်အပေါ်၌ တည်ရှိကြ၏ဟု ပြောဆိုကြ၏။ ဤသည်လည်း အလျှင်းမဖြစ်နိုင်ပေ၊ အဘယ်ကြောင့်ဟူမူ မုရှ်ရိက်တို့သည် အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲ၍ အခြားသက်ရှိ၊ သက်မဲ့များစွာတို့ကို ကိုးကွယ်ကြ၏။ တမန်တော် အီဗ်ရာဟီမ်မှာကား "တောင်ဟီဒ်" တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ခြင်းတည်းဟူသော အယူဝါဒကို စွမ်းလွန်းတမန် သက်စွန့်ကြိုးပမ်း လိုက်နာကျင့်သုံးခဲ့သော တမန်တော်တစ်ပါးဖြစ်၏။

သို့ဖြစ်ပေရာ တမန်တော် အီဗ်ရာဟီမ်၏ အယူဝါဒနှင့် ဖြောင့်ဖြောင့်ကြီးဆန့်ကျင်ပြီး အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲ၍ သက်ရှိ သက်မဲ့များကို ကိုးကွယ်သော မုရှ်ရိက်တို့က ငါတို့သည် တမန်တော် အီဗ်ရာဟီမ်၏ လမ်းစဉ်ပေါ်၌ တည်ရှိကြပါသည်ဟု ပြောဆိုခြင်းမှာ အသို့လျှင် မှန်ကန်နိုင်အံ့နည်း။ ထို့အတွက်ကြောင့်ပင်လျှင် အလ္လာဟ်အရှင်မြတ်က တမန်တော် အီဗ်ရာဟီမ်သည် ယဟူဒီလည်းမဟုတ်၊ ခရစ်ယာန် လည်းမဟုတ်၊ မုရှ်ရိက်လည်းမဟုတ်၊ တမန်တော် အီဗ်ရာဟီမ်သည် ဖြောင့်မတ်မှန်ကန်သော ပုဂ္ဂိုလ်မြတ်၊ အမိန့်တော်နာခံသော ပုဂ္ဂိုလ်မြတ်သာလျှင် ဖြစ်ကြောင်းကို ကုရ်အာန်ကျမ်းမြတ်တွင် အတည့်အလင်း ဖွင့်ဟမိန့်ဆိုထားတော်မူလေသည်။

(၁) "ဟနီဖ်" ဟူသော ပုဒ်ကို ကုရ်အာန်ကျမ်းမြတ်တွင် (၁၀)နေရာ၌ တွေ့ရှိရ၏။ ကြည့်-ကုရ်အာန်(၂း၁၃၅၊ ၃း၆၆။ ၃း၉၅။ ၄း၁၂၅။ ၆း၈၀။ ၆း၁၆၂။ ၁၀း၁၀၅။ ၁၆း၁၂၀။ ၁၆း၁၂၃။ ၃၀း၃၀)။

"ဟနဖ်" ဟူသည် လမ်းမှားခြင်းကို ပယ်၍ ဖြောင့်မတ် မှန်ကန်ခြင်းကို နှစ်ခြိုက်ခြင်းကိုဆို၏။ "ဂျနဖ်" ဟူသည် ဖြောင့်မတ်မှန်ကန်ခြင်းကို ပယ်၍ လမ်းမှားခြင်းကို နှစ်ခြိုက်ခြင်းကိုဆို၏။ "ဟနီဖ်" ဟူသည် လမ်းမှားခြင်းကို ပယ်၍ ဖြောင့်မတ် မှန်ကန်ခြင်းကို နှစ်ခြိုက်သောသူကိုဆို၏။ (ရာဃိဗ်)။

إِنَّ أَوْلَى النَّاسِ بِإِبْرٰهِيمَ
لَلَّذِينَ اتَّبَعُوهُ وَهٰذَا
النَّبِيُّ وَالَّذِينَ اٰمَنُوا ۗ
وَاللّٰهُ وَلِيُّ الْمُؤْمِنِينَ ﴿٦٨﴾

၆၈။ မုချ တမန်တော် အီဗ်ရာဟီမ်နှင့် အနီးစပ်ဆုံးသော သူတို့သည်ကား အမှန်စင်စစ် ထိုတမန်တော် (အီဗ်ရာဟီမ်၏ ဩဝါဒများ)ကို လိုက်နာသူများသည်၎င်း၊ ဤ နဗီတမန်တော် (မုဟမ္မဒ်ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည်၎င်း၊ ယုံကြည်ခြင်းသဒ္ဓါတရား ထားရှိကုန်သော (တမန်တော် မုဟမ္မဒ်၏ တပည့် နောက်လိုက် များ)သည်၎င်း၊ ဖြစ်ကြပေသည်။ အလ္လာဟ်အရှင်မြတ်သည် (မှန်ကန်စွာ)ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိသော "မုအ်မင်န်" များကို စောင့်ရှောက်တော် မူသောအရှင် ဖြစ်တော်မူ၏။

وَدَّتْ طَّآئِفَةٌ مِّنْ أَهْلِ
الْكِتٰبِ لَوْ يُضِلُّونَكُمْ ۖ
وَمَا يُضِلُّونَ إِلَّآ أَنفُسَهُمْ
وَمَا يَشْعُرُونَ ﴿٦٩﴾

၆၉။ ရှေးအထက် ကျမ်းရရှိသူတို့အနက်မှ လူတစ်စုသည် အသင်တို့အား လမ်းမှားစေခြင်းကို အာသာဆန္ဒ ရှိကြကုန်၏။ အမှန်စင်စစ် ယင်းသူတို့သည် မိမိတို့ကိုယ်မှအပ မည်သူတစ်ဦးတစ်ယောက်ကိုမျှ လမ်းမှားသို့ ရောက်စေနိုင်ကြသည်မဟုတ်။ သို့ရာတွင် ယင်းသူတို့သည် (ဤအကြောင်းကို) မသိနားမလည်ကြချေ။

يٰٓأَهْلَ الْكِتٰبِ لِمَ تَكْفُرُونَ
بِاٰيٰتِ اللّٰهِ وَأَنتُمْ
تَشْهَدُونَ ﴿٧٠﴾

၇၀။ အို-အထက်ကျမ်းဂန် ရရှိသူအပေါင်းတို့၊ အသင်တို့သည် (မိမိတို့ ယုံကြည်လေးစားကြသော "တောင်ရာတ်" နှင့် "အင်န်ဂျီလ်" ကျမ်းလာ) အလ္လာဟ်အရှင်မြတ်၏ မုဂ္ဇာပါဠ်တော်များကို အဘယ်ကြောင့် မယုံမကြည် သွေဖည်ငြင်းဆန် ကြပါသနည်း။ အမှန်စင်စစ် အသင်တို့သည် မိမိတို့ကိုယ်တိုင် ဝန်ခံပြီး ဖြစ်ကြကုန်၏။

يٰٓأَهْلَ الْكِتٰبِ لِمَ تَلْبِسُونَ

၇၁။ အို-အထက်ကျမ်းဂန် ရရှိသူအပေါင်းတို့၊ အဘယ်ကြောင့် အသင်တို့သည် အမှန်ကို အမှားနှင့် ရောနှော ရှုပ်ထွေးစေကြပါသနည်း၊

الْحَقَّ بِالْبَاطِلِ وَتَكْتُمُونَ الْحَقَّ
وَأَنْتُمْ تَعْلَمُونَ ﴿٧١﴾

ငင်းပြင် (အဘယ်ကြောင့်) အမှန်ကို ထိမ်ချန်ထားကြပါသနည်း၊ အမှန်သော်ကား အသင်တို့သည် မိမိတို့ကိုယ်တိုင် သိမြင်နားလည်ကြကုန်၏။

وَقَالَتْ طَائِفَةٌ مِنْ أَهْلِ الْكِتَابِ
آمِنُوا بِالَّذِي أُنْزِلَ عَلَى الَّذِينَ
آمَنُوا وَجْهَ النَّهَارِ وَاكْفُرُوا
آخِرَهُ لَعَلَّهُمْ يَرْجِعُونَ ﴿٧٢﴾

၇၂။ ရှေးအထက် ကျမ်းဂန်ရရှိသောသူများအနက်မှ လူတစ်စုက အသင်တို့သည် မုအ်မင်န်တို့အပေါ်၌ ကျရောက်သော (တရားဓမ္မ)ကို နံနက်ပိုင်းတွင် ယုံကြည်၍ ညနေချမ်းတွင်မူ သွေဖည်ငြင်းပယ်ကြကုန်၊ သို့မှသာလျှင် ထို(မုအ်မင်န်)များသည် (မိမိတို့၏ တရားဓမ္မမှ) ဆုတ်ခွာ ပြန်လှည့်သွားကြပေမည်ဟု (အချင်းချင်း) ပြောဆိုကြလေသည်။

وَلَا تُؤْمِنُوا إِلَّا لِمَنْ تَبِعَ
دِينَكُمْ قُلْ إِنَّ الْهُدَىٰ هُدَى
اللَّهِ أَنْ يُؤْتَىٰ أَحَدٌ مِثْلَ مَا
أُوتِيتُمْ أَوْ يُحَاجُّوكُمْ عِنْدَ
رَبِّكُمْ قُلْ إِنَّ الْفَضْلَ بِيَدِ
اللَّهِ يُؤْتِيهِ مَنْ يَشَاءُ
وَاللَّهُ وَاسِعٌ عَلِيمٌ ﴿٧٣﴾

၇၃။ ထို့ပြင် အသင်တို့သည် မိမိတို့၏သာသနာကို ယုံကြည်လိုက်နာသူမှအပ (အခြားမည်သူတစ်ဦးတစ်ယောက်ကိုမျှ) မယုံကြည်ကြကုန်လင့် (ဟုလည်း ထိုသူများသည် ပြောဆိုကြလေသည်)၊

(အိုနဗီတမန်တော်) မှချဧကန် အလ္လာဟ်အရှင်မြတ်၏ တရားဓမ္မသည်သာလျှင် ဖြောင့်မတ်မှန်ကန်သော တရားဓမ္မဖြစ်သည်ကို (ယင်းကျမ်းရသူတို့အား) ပြောကြားပါလေ။

(အို-ကျမ်းရသူ အပေါင်းတို့၊ အသင်တို့ ယခုကဲ့သို့ ပြောဆိုခြင်းမှာ) အသင်တို့ရရှိသကဲ့သို့သော တရားဓမ္မကို အခြားသူ တစ်ဦးတစ်ယောက် ရရှိခြင်း ကြောင့်သော်ငင်း၊ သို့တည်းမဟုတ် ထိုအခြားသူတို့သည် အသင်တို့၏ အရှင်မြတ်အထံတော်၌ အသင်တို့အား အချေအတင် ပြောဆိုရာတွင် အနိုင်ရရှိကြမည် ဖြစ်ခြင်းကြောင့်သော်ငင်း ဖြစ်ချေသည်။

(အို- နဗီတမန်တော် ယင်းသူတို့အား) ပြောကြားပါလေ။ (ဟယ်-အချင်းတို့) ကျေးဇူးတော်အစုံတို့သည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိ၏။ ထို အရှင်မြတ်သည် မိမိနှစ်မြို့တော်မူသော သူကိုသာလျှင် ကျေးဇူးပြုတော်မူ၏။

အကြောင်းသော်ကား အလ္လာဟ်အရှင်မြတ်သည် အလွန်ကျယ်ဝန်းစွာ ပေးသနားတော်မူသော အရှင်၊ အကြွင်းမဲ့ အလုံးစုံကို သိရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း၊

၇၄။ ထို အရှင်မြတ်သည် မိမိ ကရုဏာတော်ဖြင့် မိမိ နှစ်မြို့တော် မူသောသူအား သီးသန့်ရွေးချယ်တော်မူလေသည်။ အကြောင်းမူကား အလ္လာဟ် အရှင်မြတ်သည် အလွန်ကြီးမားလှစွာသော ကျေးဇူးတော်ရှင်ဖြစ်တော်မူခြင်းကြောင့်တည်း။

يَخْتَصُّ بِرَحْمَتِهِ مَنْ يَشَاءُ ۗ
وَاللَّهُ ذُو الْفَضْلِ الْعَظِيمِ ﴿٧٤﴾

၇၅။ ၎င်းပြင် ရှေးအထက်ကျမ်းဂန် ရရှိသူများအနက်အကြင်သူများသည်လည်း ရှိကြ၏၊ အကယ်၍ အသင်သည် ထိုသူများအား ယုံကြည်စိတ်ချ၍ (ရွှေငွေ) အမြောက်အမြားကို အပ်နှံထားခဲ့သည်ရှိသော် ထိုသူများသည် အသင့်အား ပြန်လည်ပေးဆပ်ကြကုန်အံ့။

ထို့ပြင် ထိုသူများအနက် အကြင်သူများလည်း ရှိကြသေး၏။ အကယ်၍ အသင်သည် ထိုသူတို့အား ယုံကြည်စိတ်ချကာ (ရွှေငွေအမြောက်အမြားကို မဆိုထားဘိ) "ဒီနာရ်" ရွှေဒင်္ဂါး တစ်ပြားမျှကိုပင် အပ်နှံ ခဲ့သည်ရှိသော် အသင်သည် ထိုသူများထံ

وَمِنْ أَهْلِ الْكِتَابِ مَنْ إِنْ
تَأْمَنْهُ بِقِنْطَارٍ يُؤَدِّهِ إِلَيْكَ
وَمِنْهُمْ مَنْ إِنْ تَأْمَنْهُ
بِدِينَارٍ لَا يُؤَدِّهِ إِلَيْكَ
إِلَّا مَا دُمْتَ عَلَيْهِ قَائِمًا ۗ
ذَٰلِكَ بِأَنَّهُمْ قَالُوا لَيْسَ عَلَيْنَا
فِي الْأُمِّيِّينَ سَبِيلٌ وَيَقُولُونَ عَلَى

اللّٰهِ الْكَذِبَ وَهُمْ يَعْلَمُوْنَ ﴿٧٥﴾

မတ်တတ်ရပ်၍ (ကြာရှည်စွာမနေမနား) မတောင်းဆိုသမျှ ကာလပတ်လုံး ထိုသူများသည် ထိုရွှေဒင်္ဂါးကို အသင့်အား ပြန်လည်ပေးဆပ်ကြမည် မဟုတ်ပေ။

ယင်းကဲ့သို့ မပေးဆပ်ခြင်းအကြောင်းမှာ ယင်းသူတို့က စာပေမတတ်ကျွမ်းသောသူများ (ဝါ) ကျမ်းဂန်မရသော သူများနှင့်စပ်လျဉ်း၍ ကျွန်ုပ်တို့အပေါ်၌ (ဘာသာတရားအရ အပြစ်ပေးသင့်ရန်) နည်းလမ်းမရှိ ဟု ပြောဆိုခြင်းကြောင့်ပင်တည်း။

စင်စစ် ယင်းသူတို့သည် အလ္လာဟ်အရှင်မြတ်အား မဟုတ်မလျား စွပ်စွဲပြောဆိုကြကုန်၏၊ အမှန်သော်ကား ၎င်းတို့သည် (၎င်းတို့မတရားကြောင်းကိုလည်း) ၎င်းတို့ကိုယ်တိုင် အသိပင်ဖြစ်ကြပေသည်။

بَلٰى مَنْ اَوْفٰى بِعَهْدِهٖ وَاتَّقٰى فَاِنَّ اللّٰهَ يُحِبُّ الْمُتَّقِيْنَ ﴿٧٦﴾

၇၆။ ထိုသို့အလျှင်းမဟုတ်၊ စင်စစ်(ထိုသူတို့အပေါ်၌အပြစ်ရှိပေသည်၊ အဘယ်ကြောင့်ဟူမူ) အကြင်သူသည် မိမိထားရှိအပ်သောပဋိညာဉ်ကို အတည်ပြု၍ (အလ္လာဟ် အရှင်မြတ်အား) ကြောက်ရွံ့ရိုသေပါမူ အလ္လာဟ် အရှင်မြတ်သည် ကြောက်ရွံ့ရိုသေသော သူတော်စင်တို့အား မုချ နှစ်သက်တော်မူပေသည်။

اِنَّ الَّذِيْنَ يَشْتَرُوْنَ بِعَهْدِ اللّٰهِ وَاَيْمَانِهِمْ ثَمَنًا قَلِيْلًا اُولٰٓئِكَ لَا خَلَاقَ لَهُمْ فِى الْاٰخِرَةِ وَلَا يُكَلِّمُهُمُ اللّٰهُ وَلَا يَنْظُرُ اِلَيْهِمْ

၇၇။ ဧကန်မုချ အကြင်သူတို့သည် အလ္လာဟ်အရှင်မြတ်နှင့် (မိမိတို့ ထားရှိခဲ့သော) ပဋိညာဉ်ကို၎င်း၊ မိမိတို့ ကျိန်ဆိုချက် များကို၎င်း အနည်းငယ်မျှသော အဘိုးအခဖြင့် လဲလှယ် ရောင်းချကြကုန်၏။ ဤသူများကား အကြင်သူများပင်၊ ထိုသူတို့အဘို့ နောင်တမလွန်ဘဝ၌ (သုခချမ်းသာများအနက်) ဝေစုဝေပုံဟူ၍ စိုးစဉ်းမျှ ရှိမည်မဟုတ်၊

يَوْمَ الْقِيٰمَةِ وَلَا يُزَكِّيْهِمْ
وَلَهُمْ عَذَابٌ اَلِيْمٌ ﴿٧٧﴾

ထို့ပြင် အလ္လာဟ် အရှင်မြတ်သည် "ကိယာမတ်" ရှင်ပြန် ထမည့်နေ့တွင် ထိုသူတို့အား စကား ပြောကြားတော် မူမည်လည်းမဟုတ်၊ ထိုသူတို့အား ရှုစားတော် မူမည်လည်းမဟုတ်၊ ထိုသူတို့အား (ဒုစရိုက်မှုများမှ) သန့်စင်အောင် ပြုလုပ်ပေးတော် မူမည်လည်းမဟုတ်။

ထိုသူတို့အဘို့ ပြင်းပြ နာကျင်စေသော အပြစ်ဒဏ်သည် အသင့်ရှိပေမည်။

وَاِنَّ مِنْهُمْ لَفَرِيْقًا يَّلْوٗنَ
اَلْسِنَتَهُمْ بِالْكِتٰبِ لِتَحْسَبُوْهُ
مِنَ الْكِتٰبِ وَمَا هُوَ مِنَ
الْكِتٰبِ ۚ وَيَقُوْلُوْنَ هُوَ مِنْ
عِنْدِ اللّٰهِ وَمَا هُوَ مِنْ عِنْدِ
اللّٰهِ ۚ وَيَقُوْلُوْنَ عَلَى اللّٰهِ
الْكَذِبَ وَهُمْ يَعْلَمُوْنَ ﴿٧٨﴾

**၇၈။** ၎င်းပြင် ထိုသူများအနက် လူတစ်စုသည် မုချရှိ၏၊ ထိုသူများသည် ကျမ်းဂန်(ကို ရွတ်ဘတ်ရာ) ၌ မိမိတို့၏ လျှာများကို လိပ်ခေါက်ကြ၏။ (ယင်းကဲ့သို့ ပြုလုပ်ခြင်းမှာ ထိုသူတို့ လုပ်ကြံ ရွတ်ဘတ်သော) ထိုအရာကို အသင်တို့က ကျမ်းလာ စကားဟု ထင်မှတ်ကြရန် ဖြစ်သည်။ အမှန်သော်ကား ထိုအရာသည် ကျမ်းလာစကား အလျင်း မဟုတ်ပေ။

၎င်းပြင် ထိုသူတို့က (မိမိတို့ ရွတ်ဘတ်သော) အရာသည် အလ္လာဟ် အရှင်မြတ်၏ အထံတော်မှ (ကျရောက်သည်)ဟု ပြောဆိုကြ၏။ စင်စစ်သော်ကား ထိုအရာသည် အလ္လာဟ်အရှင်မြတ်၏ အထံတော်မှ (ကျရောက်သည်) အလျင်း မဟုတ်ချေ။

သို့တစေလည်း ထိုသူများသည် မိမိတို့ ကိုယ်တိုင် သိကြပါလျက် နှင့်ပင် အလ္လာဟ်အရှင် မြတ်နှင့်ပတ်သက်၍ မုသားကို လုပ်ကြံ ပြောဆို ကြလေသည်။

مَا كَانَ لِبَشَرٍ أَنْ يُؤْتِيَهُ اللَّهُ الْكِتَابَ وَالْحُكْمَ وَالنُّبُوَّةَ ثُمَّ يَقُولَ لِلنَّاسِ كُونُوا عِبَادًا لِي مِنْ دُونِ اللَّهِ وَلَٰكِنْ كُونُوا رَبَّانِيِّينَ بِمَا كُنْتُمْ تُعَلِّمُونَ الْكِتَابَ وَبِمَا كُنْتُمْ تَدْرُسُونَ ﴿٧٩﴾

၇၉။ မည်သည့် လူသား တစ်ဦးတစ်ယောက်မဆို၊ အလ္လာဟ် အရှင်မြတ်သည် ထိုသူ့အား ပရိယတ္တိ ဒေသနာတော် ကျမ်းမြတ်ကိုလည်းကောင်း၊ အကျိုး အကြောင်း ဆင်ခြင်နိုင်သော ဉာဏ်ပညာ အမြော် အမြင်ကိုလည်းကောင်း၊ နဗီတမန်တော်၏ဂုဏ်ထူးကို လည်းကောင်း၊ ချီးမြှင့် ပေးသနားတော်မူ၏။ သို့ ချီးမြှင့်ပြီးနောက် ထိုသူက လူခပင်းတို့အား "(ဟယ်- အချင်းတို့) အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကို စွန့်လွှတ်၍ ငါ၏ကျွန်များဖြစ်ကြကုန်" ဟူ၍ ပြောဆိုရန် မဖြစ်နိုင်ပေ။ သို့ရာတွင် (ထိုသို့ ချီးမြှင့်ခြင်း ခံရသောသူက ဤသို့သာလျှင် ပြောဆိုအံ့)၊ "(ဟယ်- အချင်းတို့)၊ အသင်တို့သည် အလ္လာဟ် အရှင်မြတ် ၏ အမိန့်တော်များကို နာခံသူများ ဖြစ်ကြကုန်"၊ အကြောင်းမူကား အသင်တို့သည် ဒေသနာတော် ကျမ်းဂန်ကို (သူတပါးတို့အား) သင်ကြားပြသ ပို့ချသည့်ပြင် မိမိတို့ ကိုယ်တိုင်လည်း ဘတ်ရွတ် လေ့လာသူများ ဖြစ်သောကြောင့်ပင်တည်း။

وَلَا يَأْمُرَكُمْ أَنْ تَتَّخِذُوا الْمَلَائِكَةَ وَالنَّبِيِّينَ أَرْبَابًا ۗ أَيَأْمُرُكُمْ بِالْكُفْرِ بَعْدَ إِذْ أَنْتُمْ مُسْلِمُونَ ﴿٨٠﴾

၈၀။ ထိုနည်းတူစွာ ယင်း(ကဲ့သို့ ချီးမြှင့်ခြင်း ခံရသော)သူက အသင်တို့အား "မလာအိကဟ်" အပါးတော် စေတမန်များကိုလည်းကောင်း၊ နဗီ တမန်တော်များကို လည်းကောင်း၊ (မိမိတို့အား) မွေးမြူတော် မူသောအရှင်များ အဖြစ် ပြုလုပ် ကြရန်လည်း (မည်သည့်အခါမျှ) ညွှန်ကြားမည် မဟုတ်ပေ။ အသင်တို့ (မွတ်စ်လင်မ်) အမိန့်နာခံ သောသူများ ဖြစ်ကြပြီးနောက် ထို(နဗီအဖြစ် ချီးမြှင့် ခြင်းခံရသော) သူသည် အသင်တို့အား သွေဖည် ငြင်းပယ်ရန် ညွှန်ကြားပါမည်လော။

وَإِذْ أَخَذَ اللَّهُ مِيثَاقَ
النَّبِيِّينَ لَمَا آتَيْتُكُمْ مِنْ
كِتَابٍ وَحِكْمَةٍ ثُمَّ جَاءَكُمْ
رَسُولٌ مُصَدِّقٌ لِمَا مَعَكُمْ
لَتُؤْمِنُنَّ بِهِ وَلَتَنْصُرُنَّهُ ۚ
قَالَ أَأَقْرَرْتُمْ وَأَخَذْتُمْ عَلَىٰ
ذَٰلِكُمْ إِصْرِي ۖ قَالُوا أَقْرَرْنَا ۚ
قَالَ فَاشْهَدُوا وَأَنَا مَعَكُمْ
مِنَ الشَّاهِدِينَ ﴿٨١﴾

**၈၁။** ထိုမှတပါးတုံ (ပြန်လည်အောင့်မေ့ သတိရကြကုန်၊) တရံရောအခါဝယ် အလ္လာဟ် အရှင်မြတ်သည် နဗီတမန်တော်များထံမှ ပဋိညာဉ်ဝန်ခံချက်ကို (ဤသို့) ယူတော် မူလေသည်။ “(အို-နဗီတမန်အပေါင်းတို့) ဧကန်မလွဲ ငါအရှင်မြတ်သည် အသင်တို့အား ကျမ်းဂန်ကိုငှင်း၊ ဉာဏ်ပညာအမြော်အမြင်ကိုငှင်း၊ ပေးသနားတော် မူပြီးနောက် အသင်တို့ လက်ဝယ်ရှိနှင့်ပြီးဖြစ်သော ကျမ်းဂန်များကိုထောက်ခံသော *ရစူလ်တမန်တော် တစ်ပါးပါး* [၁] သည် အသင်တို့ထံ ရောက်လတ်သော် အသင်တို့သည် ထိုရစူလ်တမန်တော်ကို (မိမိတို့စိတ်တွင်းမှ) မုချ ယုံကြည်ကြပေမည်။ ၎င်းပြင် ထိုရစူလ်တမန်တော်ကို (ကာယကံမြောက်လည်း) အားပေးကူညီကြပေမည်”။

ထို့နောက် အလ္လာဟ်အရှင်မြတ်က “(အို-နဗီတမန်တော် အပေါင်းတို့) အသင်တို့သည် ဝန်ခံကြပြီလော။ ယင်းကိစ္စနှင့်စပ်လျဉ်း၍ အသင်တို့သည် ငါအရှင်မြတ်၏ ပဋိညာဉ်တော်ကိုလည်း လက်ခံကြပြီလော” ဟု မေးမြန်းတော်မူ၏။

(ထိုအခါ နဗီတမန်တော် အပေါင်းတို့က) “ကျွန်တော်မျိုးတို့သည် ဝန်ခံကြပါပြီ” ဟု တင်လျှောက် ကြလေသည်။

(၁) ဤမုက္ခပါဌ်တော်၌ “ရစူလ်” တမန်တော်တစ်ပါးဟူသည် တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟုအလိုင်ဟိ ဝစလ္လာမ်)ကို ရည်ညွှန်းသည်ဟု သာဝကကြီး အလီသခင်နှင့် သာဝကကြီး အဗ်ဒုလ္လာဟ် အီဗ်နုအဗ္ဗါစ်တို့က ဖွင့်ဆိုထားကြလေသည်။ (ကုရ်တုဗီ)။

(ထိုအခါ အလ္လာဟ်အရှင်မြတ်က) "သို့ဖြစ်လျှင် အသင်တို့သည် (ဤပဋိညာဉ် ဝန်ခံချက်နှင့် စပ်လျဉ်း၍) အသိ သက်သေများ ဖြစ်ကြကုန်။ ငါအရှင်မြတ် သည်လည်း အသင်တို့နှင့်အတူ အသိ သက်သေများအနက် အပါအဝင်ဖြစ်တော်မူသည်" ဟု မိန့်ကြားတော်မူလေသတည်း။

فَمَنْ تَوَلّٰى بَعْدَ ذٰلِكَ فَاُولٰٓئِكَ هُمُ الْفٰسِقُوْنَ ﴿٨٢﴾

၈၂။ တဖန် အကြင်သူသည် ထို(ကဲ့သို့ ပဋိညာဉ်ထားရှိပြီး)နောက် မျက်နှာလွှဲဖယ် သွားခဲ့ပါမူ၊ ဤကဲ့သို့သော သူတို့သည်သာလျှင် အမိန့်မနာခံ သူများ ဖြစ်ကြပေသည်။

اَفَغَيْرَ دِيْنِ اللّٰهِ يَبْغُوْنَ وَلَهٗٓ اَسْلَمَ مَنْ فِى السَّمٰوٰتِ وَالْاَرْضِ طَوْعًا وَّكَرْهًا وَّاِلَيْهِ يُرْجَعُوْنَ ﴿٨٣﴾

၈၃။ ထိုသူတို့သည် အလ္လာဟ် အရှင်မြတ်၏ သာသနာတော်မှတပါး၊ အခြား(နည်းလမ်း)ကို စူးစမ်းရှာဖွေလိုကြသလော။ စင်စစ်သော်ကား ကောင်းကင်များနှင့် ပထဝီမြေကြီးတွင် ရှိရှိသမျှသော အရာခပ်သိမ်းတို့သည် သဘောတူသည်ဖြစ်စေ၊ သဘောမတူသည်ဖြစ်စေ၊ ထိုအရှင်မြတ်၏ အမိန့်တော် ကိုသာ လိုက်နာလျက် ရှိကြကုန်သည်။ တဖန် (နောက်ဆုံးတွင်) ထို ခပ်သိမ်းကုန်သော အရာတို့သည် ထိုအရှင်မြတ်၏ အထံတော်သို့ သာလျှင် ပြန်လှည့်ကြရပေမည်။

قُلْ اٰمَنَّا بِاللّٰهِ وَمَآ اُنْزِلَ عَلَيْنَا وَمَآ اُنْزِلَ عَلٰٓى اِبْرٰهِيْمَ وَ اِسْمٰعِيْلَ وَاِسْحٰقَ وَيَعْقُوْبَ وَالْاَسْبَاطِ وَمَآ اُوْتِيَ مُوْسٰى

၈၄။ (အို-နဗီတမန်တော် မုဟမ္မဒ်) အသင်သည် ပြောကြားပါလေ။ "အကျွန်ုပ်တို့သည် အလ္လာဟ် အရှင်မြတ်ကိုလည်းကောင်း၊ အကျွန်ုပ်တို့အပေါ်ဝယ် ကျရောက် လာသော ဓမ္မဒေသနာ (ကုရ်အာန် ကျမ်းတော်မြတ်)ကိုလည်းကောင်း၊ နဗီတမန်တော် အီဗ်ရာဟီမ်၊ နဗီတမန်တော် အစ္စမာအီလ်၊ နဗီ တမန်တော် အစ္စဟာက်၊ နဗီတမန်တော် ယအ်ကူဗ်နှင့်

وَعِيسَىٰ وَالنَّبِيُّونَ مِن رَّبِّهِمْ لَا نُفَرِّقُ بَيْنَ أَحَدٍ مِّنْهُمْ وَنَحْنُ لَهُ مُسْلِمُونَ ﴿٨٤﴾

(နဗီတမန်တော် ယအ်ကူဗ်၏) သားမြေး၊ မြစ်တို့ အပေါ်၌ ကျရောက်လာသော ဒေသနာတော်များကို လည်းကောင်း၊ ယုံကြည်ကြပါသည်။

ထို့ပြင် နဗီတမန်တော်မူစာ၊ နဗီတမန်တော် အီစာနှင့် အခြား နဗီတမန်တော် အပေါင်းတို့အား ၎င်းတို့၏ အရှင်မြတ်အထံတော်မှ ပေးသနားတော်မူသော ဒေသနာတော်များကိုလည်း ကျွန်ုပ်တို့ ယုံကြည်ကြပါသည်။

(တဖန် ယင်းကဲ့သို့ ယုံကြည်ရာ၌) ထိုနဗီတမန်တော် အပေါင်းတို့အနက် တပါးနှင့် တပါး ခွဲခြားခြင်း အလျှင်း မပြုကြပါ။

အမှန်သော်ကား အကျွန်ုပ်တို့သည် ထို (တစ်ဆူတည်းသော) (အလ္လာဟ် အရှင်မြတ်၏ ဒေသနာတော်များ)ကို လိုက်နာသော မွတ်စ်လင်မ်များ ဖြစ်ကြပါသည်။

وَمَن يَبْتَغِ غَيْرَ الْإِسْلَامِ دِينًا فَلَن يُقْبَلَ مِنْهُ وَهُوَ فِي الْآخِرَةِ مِنَ الْخَاسِرِينَ ﴿٨٥﴾

**၈၅။** ထို့ပြင်တဝ မည်သူမဆို "အစ္စလာမ်" သာသနာမှတပါး အခြားသာသနာ တစ်ရပ်ရပ်ကို ရှာဖွေစူးစမ်းပါမူ ထိုသူ၏ထံမှ (ထိုသူရှာဖွေသော သာသနာသည် အလ္လာဟ်အရှင်မြတ်အထံတော်၌) လက်ခံသဘောတူတော်မူခြင်းကို အလျှင်းခံရမည် မဟုတ်ပေ။

၎င်းပြင် ထိုသူသည် နောင်တမလွန်ဘဝ၌လည်း ဆုံးရှုံးသူများအနက် တစ်ဦးအပါအဝင် ဖြစ်ပေမည်။

كَيْفَ يَهْدِى اللّٰهُ قَوْمًا
كَفَرُوْا بَعْدَ اِيْمَانِهِمْ وَشَهِدُوْٓا
اَنَّ الرَّسُوْلَ حَقٌّ وَّجَآءَهُمُ
الْبَيِّنٰتُ ۗ وَاللّٰهُ لَا يَهْدِى
الْقَوْمَ الظّٰلِمِيْنَ ۝٨٦

၈၆။ ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိပြီးနောက် ၎င်း၊ ရစူလ်တမန်တော် (မုဟမ္မဒ် ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် နဗီတမန်တော် အစစ် အမှန်ဖြစ်ကြောင်း သက်သေခံပြီး နောက်၎င်း၊ မိမိတို့ထံဝယ် (အစ္စလာမ် သာသနာတော်သည် မှန်ကန်သော သာသနာဖြစ်ကြောင်းနှင့် စပ်လျဉ်း၍) ထင်ရှားလှစွာသော သက်သေ သာဓကများလည်း ရောက်ရှိခဲ့ပြီး နောက်၎င်း၊ မယုံမကြည် သွေဖည် ငြင်းပယ်ကြကုန်သော လူစုကို အလ္လာဟ်အရှင်မြတ် သည် မည်သည့်နည်းဖြင့် တရားလမ်းမှန်ကို ညွှန် ကြားတော် မူပါအံ့နည်း၊

အကြောင်းသော်ကား အလ္လာဟ် အရှင်မြတ် သည် မတော်မတရား ပြစ်မှုကျူးလွန်သူတို့အား တရားလမ်းမှန်ကို ညွှန်ကြားတော်မူမည်မဟုတ်ချေ။

اُولٰٓئِكَ جَزَآؤُهُمْ اَنَّ عَلَيْهِمْ
لَعْنَةَ اللّٰهِ وَالْمَلٰٓئِكَةِ
وَالنَّاسِ اَجْمَعِيْنَ ۙ ۝٨٧

၈၇။ ယင်းသူတို့၏ အကျိုးကား မုချကေန် "ယင်းသူတို့အပေါ်ဝယ် အလ္လာဟ် အရှင်မြတ်၏ "လအ်နတ်" ရှုတ်ချခြင်းသည်၎င်း၊ "မလာအိကဟ်" အပါးတော် စေတမန်အပေါင်းတို့၏ ရှုတ်ချခြင်း သည်၎င်း၊ လူခပင်းတို့၏ ရှုတ်ချခြင်းတို့သည်၎င်း အားလုံးတို့၏ ရှုတ်ချခြင်းသည် ကျရောက်လေသည်။

خٰلِدِيْنَ فِيْهَا ۚ لَا يُخَفَّفُ
عَنْهُمُ الْعَذَابُ وَلَا هُمْ
يُنْظَرُوْنَ ۙ ۝٨٨

၈၈။ ထိုသူတို့သည် ယင်း(ရှုတ်ချခြင်း) ၌ပင် ထာဝစဉ် ခံစားကြရမည့် အပြင် ယင်းသူတို့၏ အပြစ်ဒဏ်သည်လည်း ပေါ့လျော့စေခြင်း ခံရမည် မဟုတ်။ ထိုမှတပါး ယင်းသူတို့သည် (အပြစ်ဒဏ် စီရင်ရာ၌) ဆိုင်းငံ့ထားခြင်းကိုလည်း ခံကြရမည် မဟုတ်ပေ။

إِلَّا الَّذِينَ تَابُوا مِنْ بَعْدِ
ذَٰلِكَ وَأَصْلَحُوا فَإِنَّ
اللَّهَ غَفُورٌ رَحِيمٌ ﴿٨٩﴾

**၈၉။** သို့ရာတွင် အကြင်သူတို့သည် ထို(ကဲ့သို့ ငြင်းပယ်ပြီး)နောက် (သံဝေဂတရား ရရှိကာ မိမိတို့ အပြစ်များကို)ဝန်ချတောင်းပန်ကြ၍ (မိမိတို့စိတ်နှလုံး ကိုလည်း) ပြုပြင်ကြပါမူ မုချဧကန် အလ္လာဟ်အရှင် မြတ်သည်လည်း (ထိုကဲ့သို့သောသူတို့အား) အကြိမ် ကြိမ် လွတ်ငြိမ်းချမ်းသာခွင့်ပေးသနားတော်မူသော အရှင်၊ မပြတ်မစဲ သနားကြင်နာ ညှာတာတော် မူသော အရှင်မြတ်ပင် ဖြစ်တော်မူလေသတည်း။

إِنَّ الَّذِينَ كَفَرُوا بَعْدَ
إِيمَانِهِمْ ثُمَّ ازْدَادُوا كُفْرًا
لَنْ تُقْبَلَ تَوْبَتُهُمْ وَأُولَٰئِكَ
هُمُ الضَّالُّونَ ﴿٩٠﴾

**၉၀။** ဧကန်အမှန် အကြင်သူတို့သည် မိမိတို့ ယုံကြည်ခြင်း သဒ္ဓါတရားထားရှိပြီး နောက်မှ တဖန် သွေဖည်ငြင်းပယ် ကြကုန်၏။ ထို့နောက် ယင်းသူ တို့သည် သွေဖည်ငြင်းပယ်မှု၌ပင် နစ်မွန်း၍ နေကြကုန်သည်။ ယင်းသို့သောသူတို့၏ နောင်တ တရားရရှိခြင်းသည် (အလ္လာဟ်အရှင်မြတ် အထံ တော်၌) သဘောတူလက်ခံတော်မူခြင်းကို အလျှင်း ခံရမည်မဟုတ်ပေ။ အမှန်သော်ကား ဤသူတို့သည် (အစဉ်) လမ်းလွဲသောသူများသာတည်း။

إِنَّ الَّذِينَ كَفَرُوا
وَمَاتُوا وَهُمْ كُفَّارٌ فَلَنْ
يُقْبَلَ مِنْ أَحَدِهِمْ مِلْءُ
الْأَرْضِ ذَهَبًا وَلَوِ افْتَدَىٰ
بِهِ ۗ أُولَٰئِكَ لَهُمْ عَذَابٌ
أَلِيمٌ وَمَا لَهُمْ مِنْ
نَاصِرِينَ ﴿٩١﴾

**၉၁။** ဧကန်မုချ အကြင်သူတို့သည် သွေဖည် ငြင်းပယ်ကြ၍၊ သွေဖည်ငြင်းပယ်သူများ အဖြစ်နှင့်ပင် သေဆုံးကြ၏၊ ထိုသို့သော သူတို့အနက် တစ်ဦး ဦးသည် (အပြစ်များမှ ချမ်းသာရရန် အလို့ငှာ) ကမ္ဘာမြေနှင့်အပြည့် ရွှေကို (စုပုံ၍) လျော်ကြေး ပေးငြားသော်လည်း (အလ္လာဟ် အရှင်မြတ်သည်) အလျှင်း သဘောတူ လက်ခံတော်မူမည် မဟုတ်ပေ။ (အမှန်စင်စစ်) ယင်းသူတို့အတွက် အလွန် ပြင်းပြ နာကျင်စေသော အပြစ်ဒဏ်သာရှိ၏၊ ထို့ပြင် ယင်း သူတို့အတွက် ကူညီမိုင်းမမည့်သူ ဟူ၍လည်း တစ်ဦး တစ်ယောက်မျှ ရှိလိမ့်မည်မဟုတ်ပေ။

لَنْ تَنَالُوا الْبِرَّ حَتّٰى تُنْفِقُوْا مِمَّا تُحِبُّوْنَ ۬ۜ وَمَا تُنْفِقُوْا مِنْ شَيْءٍ فَاِنَّ اللّٰهَ بِهٖ عَلِيْمٌ ﴿٩٢﴾

၉၂။ (အို-မွတ်စ်လင်မ်အပေါင်းတို့) အသင်တို့သည် *မိမိတို့နှစ်သက်ကြကုန်သော*① ဥစ္စာပစ္စည်းများအနက်မှ၊ လှူဒါန်းသုံးစွဲခြင်းမပြုသမျှ ကာလပတ်လုံး၊ မြင့်မြတ်သော အကျင့်တရားအစစ်အမှန်(၏ အကျိုးကျေးဇူး)ကို မည်သည့်နည်းနှင့်မျှ ရယူနိုင်ကြမည်မဟုတ်ပေ။

ငင်းပြင် မည်သည့်အရာမဆို အသင်တို့ လှူဒါန်းသုံးစွဲကြပါမူ၊ အလ္လာဟ်အရှင်မြတ်သည် ထိုအရာကို အကြွင်းမဲ့ သိတော်မူသောအရှင် ဖြစ်တော်မူသည်။

كُلُّ الطَّعَامِ كَانَ حِلًّا لِّبَنِيْٓ اِسْرَآءِيْلَ اِلَّا مَا حَرَّمَ اِسْرَآءِيْلُ عَلٰى نَفْسِهٖ مِنْ قَبْلِ اَنْ تُنَزَّلَ التَّوْرٰىةُ ۭ قُلْ فَاْتُوْا بِالتَّوْرٰىةِ فَاتْلُوْهَآ اِنْ كُنْتُمْ صٰدِقِيْنَ ﴿٩٣﴾

၉၃။ "တောင်ရာတ်" ကျမ်းမြတ်မကျရောက်မီ [နဗီတမန်တော် အစ္စရာအီလ် (ဝါ) ယအ်ကူဗ် (အလိုင်ဟစ္စလာမ်)] သည် (Sciatica ခေါ် တင်ကြောလျှောက်နာ ဖြစ်ခဲ့သဖြင့်] မိမိအတို့ မြစ်တားခဲ့သောအရာ [(ဝါ)ကုလားအုဋ်သား)] မှအပ (ယေဘုယျအားဖြင့် လူအများစားသုံးကြကုန်သော အခြား) စားဘွယ်သောက်ဘွယ် အားလုံးတို့သည် အစ္စရာအီလ်၏ မျိုးနွယ်များအဘို့ (စား) ခွင့်ပြုပြီး ဖြစ်ခဲ့လေသည်။

---

**ဆက်စပ်မှု။**

ကုရ်အာန်ကျမ်းမြတ် (၃း၉၀)တွင် ကာဖိရ်တို့၏ လျော်ကြေးပေးခြင်းသည် အဘယ်မျှပင်များပြားလင့်ကစား အကျိုးမရှိသည့်အကြောင်းပါရှိ၏။ ယခုဖော်ပြလတ္တံ့သော အာယသ်တော်များတွင် ကား မွတ်စ်လင်မ်တို့၏ အလှူဒါနသည် နောင်တမလွန်ဘဝတွင် အကျိုးရှိသည့်အကြောင်း ပါရှိလေသည်။ ကြည့်-(ထာနဝီ။)

① "အသင်တို့ နှစ်သက်မြတ်နိုးကြသောအရာ"ဟူသည် ဥစ္စာပစ္စည်းကိုသာလျှင် ဆိုလိုသည်မဟုတ်၊ ထိုစကားတွင် လူသားတို့နှစ်သက်မြတ်နိုးသော အသက်၊စည်းစိမ်၊ရာထူး၊ဂုဏ်သိရ်၊ အိုးအိမ်၊ ဂေဟာ၊ တန်ခိုး၊ အာဏာ၊ ဥစ္စာပစ္စည်း ... စသည်တို့သည် အားလုံးအကျုံးဝင်လျက်ရှိပေသည်။ ကြည့်-မာဂျိဒီ။

(သို့ဖြစ်ပေရာ အို-နဗီတမန်တော် ကုလားအုဋ် သားကို မစားရဟု နဗီတမန်တော် အီဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်) လက်ထက်ကပင် ပညတ်ထားသည်ဟု ပြောဆိုကြကုန်သော ယဟူဒီများအား) အသင် (ဤသို့) ပြောကြားပါလေ။ "(ဟယ်-ယဟူဒီအပေါင်းတို့)" သို့ (အသင်တို့ ပြောဆိုကြသည့်အတိုင်း) ဖြစ်ခဲ့ပါလျှင် အသင်တို့သည် တောင်ရာတ်ကျမ်းမြတ်ကို ဆောင်ယူခဲ့ကြလေကုန်၊ ပြီးနောက် တဖန် အကယ်၍ သင်တို့သည် (မိမိတို့ ပြောဆိုရာ၌) အမှန်ကို ပြောဆိုကြသူများဖြစ်ကြပါမူ ယင်း(တောင်ရာတ် ကျမ်းမြတ်)ကို ရွတ်ဘတ် ကြလေကုန်။

فَمَنِ افْتَرٰى عَلَى اللّٰهِ الْكَذِبَ مِنْۢ بَعْدِ ذٰلِكَ فَاُولٰٓئِكَ هُمُ الظّٰلِمُوْنَ ﴿٩٤﴾

၉၄။ သို့(ထိုသူတို့ မှသား ပြောဆိုကြောင်းကို သာဓကနှင့်တကွ ထင်ရှားစေပြီး) ဖြစ်ပါလျက် အကြင်သူတို့သည် ထို(ကဲ့သို့ထင်ရှားစေပြီး) နောက် အလ္လာဟ်အရှင်မြတ်အပေါ်၌ လုပ်ကြံ မှသား ပြောဆိုပါမူ ဤကဲ့သို့သောသူများသည် ဖြစ်မှု ကျူးလွန်သော သူများပင်ဖြစ်သည်။

قُلْ صَدَقَ اللّٰهُ فَاتَّبِعُوْا مِلَّةَ اِبْرٰهِيْمَ حَنِيْفًا وَمَا كَانَ مِنَ الْمُشْرِكِيْنَ ﴿٩٥﴾

၉၅။ (အို-နဗီတမန်တော်) အသင်သည် (ယင်းယဟူဒီတို့အား ဤသို့) ပြောကြားပါလေ။ "(ဟယ်-ယဟူဒီအပေါင်းတို့) အလ္လာဟ် အရှင်မြတ်ကမူ ဟုတ်တိုင်းမှန်ရာ မြွက်ဟ မိန့်ကြားတော်မူခဲ့ချေပြီ။ သို့ဖြစ်ပေရာ အသင်တို့သည် ဖြောင့်မတ်တည်ကြည်သော (နဗီတမန်တော်) အီဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်)၏ (အစ္စလာမ်) သာသနာကိုပင် လိုက်နာကြလေကုန်။

စင်စစ်သော်ကား ယင်း နဗီတမန်တော် (အီဗ်ရာဟီမ် အလိုင်ဟစ္စလာမ်)သည် အခြား တစုံတရာကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဘက် ကိုးကွယ်သူများ အနက်မှလည်း မဖြစ်ခဲ့ဘူးချေ။"

إِنَّ أَوَّلَ بَيْتٍ وُضِعَ لِلنَّاسِ لَلَّذِي بِبَكَّةَ مُبَارَكًا وَهُدًى لِّلْعَالَمِينَ ﴿٩٦﴾

**၉၆။** ဧကန်စင်စစ် (အလ္လာဟ် အရှင်မြတ်အား ခဝပ်ကိုးကွယ်ရန်အလို့ငှာ) လူသားတို့အဖို့ ဦးစွာပဌမ *တည်ဆောက်ထားသော အိမ်တော်သည်ကား* [၁] *မက္ကာမြို့တော်၌* [၂] တည်ရှိသော အိမ်တော်ပင်တည်း။ ထိုအိမ်တော်သည် *ကောင်းချီးမင်္ဂလာ အဖြာဖြာနှင့် ပြည့်စုံလျက်ရှိသည့်ပြင်* [၃] စကြာဝဠာခပ်သိမ်းကို တရားလမ်းမှန်သို့လည်း ညွှန်ကြားလျက် ရှိပေသည်။

(၁) **ဖော်ပြချက်။**

ယဟူဒီများသည် ယေရုရှလင်မြို့တော်ရှိ "မတ်စ်ဂျစ်ဒ်အက်ဆွာ" ကျောင်းတော်ကို မက္ကာမြို့တော်ရှိ "ကအ်ဗဟ်" ကျောင်းတော်ထက် အမြတ်တနိုးထားကြ၏။ မွတ်စ်လင်မ်များကမူ မက္ကာမြို့တော်ရှိ "ကအ်ဗဟ်" ကျောင်းတော်ကို အထွတ်အမြတ်ဆုံးဟူ၍ ယူဆကြ၏။ ယဟူဒီများနှင့် မွတ်စ်လင်မ်များ စပ်ကြားတွင် သူ့ကျောင်းသာသည်၊ ငါ့ကျောင်းသာသည် ဟူ၍ အချင်းချင်း အငြင်းပွားလျက်ရှိသည့်အခါ မွတ်စ်လင်မ်များ၏ ယူဆချက်မှန်ကန်ကြောင်းကို အလ္လာဟ်အရှင်မြတ်သည် ဤအာယသ်တော်တွင် မိန့်ဆိုထားတော်မူသည်။ ကြည့်- ထာနဝီ။

အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ရန်အလို့ငှါ လူသားတို့အဖို့ ဦးစွာပဌမ တည်ဆောက် ထားတော်မူသော အိမ်တော်သည် မက္ကာမြို့တော်ရှိ ကအ်ဗဟ်ကျောင်းတော်ပင် ဖြစ်ချေသည်။ ထိုကျောင်းတော်သည် ယေရုရှလင်မြို့ရှိ မတ်စ်ဂျစ်ဒ်အက်ဆွာ ကျောင်းတော်ထက် ရှေးလည်းကျပေသည်။ သာလွန်၍လည်း မြင့်မြတ်ပေသည်။

(၂) ဗက္ကဟ်ဟူသည် မက္ကဟ်မြို့တော်ကို ဆိုသည်။ ကြည့်-ကုရ်တုဗီ။

အရဗီဘာသာတွင် (မ) အက္ခရာသည် (ဗ) အက္ခရာနှင့် ပြောင်းလဲလေ့ရှိ၏။ ဥပမာ လာဇင်မ်နှင့် လာဇစ်ဗ်။ ရာတင်မ်နှင့် ရာတစ်ဗ်၊ နမီးတ်နှင့် နဗီတ်။ ဤနည်းအတိုင်းပင် မက္ကဟ်နှင့် ဗက္ကဟ်တွင်လည်း (မ)နှင့် (ဗ)ပြောင်းလဲခြင်း ဖြစ်ပေသည်။ ကြည့်-မာရိဒီ။

(၃) နဗီတမန်တော် အီဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ ကြင်ရာတော် ဟာဂျိရဟ်နှင့် သားတော် အစ္စမာအီလ် တို့အား အလ္လာဟ်အရှင်မြတ်၏ ကျောင်းတော်ပါးသို့ သွားရောက် စွန့်ပစ်ထားခဲ့၏။ ထိုအချိန်တွင် ထိုကျောင်းတော်ပါး၌ လူနေအိမ်ခြေဟူ၍လည်း မရှိ၊ လယ်ယာကိုင်းကျွန်း ဟူ၍လည်းမရှိ၊ စားနပ်ရိက္ခာ အလွန်တရာမျှပင် ခေါင်းပါးလှ၏။

သို့ပင်တစေ ကုရ်အာန်ကျမ်းမြတ် (၁၄း၃၇။၂း၁၂၆။)တွင် ပါရှိသည့်အတိုင်း နဗီတမန်တော် ➤➤

فِيهِ آيَاتٌ بَيِّنَاتٌ مَقَامُ
إِبْرَاهِيمَ ۖ وَمَنْ دَخَلَهُ كَانَ
آمِنًا ۗ وَلِلَّهِ عَلَى النَّاسِ حِجُّ
الْبَيْتِ مَنِ اسْتَطَاعَ إِلَيْهِ
سَبِيلًا ۚ وَمَنْ كَفَرَ فَإِنَّ اللَّهَ
غَنِيٌّ عَنِ الْعَالَمِينَ ﴿٩٧﴾

၉၇။ ယင်းအိမ်တော်၌ ထင်ရှားလှစွာသော သက်သေလက္ခဏာများ ရှိကြ၏။ (ယင်း လက္ခဏာများအနက်မှ "မကာမုအိဗ်ရာဟီမ်" နဗီတမန်တော်) အိဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်) ရပ်တည်သောနေရာသည် (လည်း လက္ခဏာတရပ်ပင်) ဖြစ်ချေသည်။ ထိုမှတပါး အကြင်သူသည် ယင်းအိမ်တော်သို့ ဝင်ရောက်ခဲ့အံ့၊ ထိုသူသည် ဘေးရန်(ခပ်သိမ်း) *ကင်းငြိမ်းသူ ဖြစ်လတ္တံ့။*[၁]

တဖန် လူများအပေါ်ဝယ် တာဝန်ရှိသည်မှာ၊ အကြင်သူသည် ထိုအိမ်တော်သို့အရောက် ခရီးသွားရန် တတ်စွမ်း နိုင်ခဲ့ပါလျှင်၊ အလ္လာဟ် အရှင်မြတ် (နှစ်သက်တော် မူရန်)အတွက် ထိုအိမ်တော်သို့ သွားရောက် ဟဂ်ျပြုရန် (ထိုသူ့အပေါ်၌) တာဝန်ရှိပေသည်။ သို့ရာတွင် အကြင်သူသည် (အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်များကို) ငြင်းပယ်သည် ရှိသော် (အလ္လာဟ်အရှင်မြတ်၌ တစုံတရာမျှ နစ်နာဆုံးရှုံးမှု အလျှင်းမရှိချေ၊) အဘယ်ကြောင့်ဟူမူ အလ္လာဟ်အရှင်မြတ်သည် မုချဧကန် စကြာဝဠာအပေါင်းတို့အား လိုလား တောင့်တခြင်း ကင်းတော်မူသော အရှင်ဖြစ်တော်မူပေသတည်း။

---

➤➤ အိဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်) ၏ ဆုတောင်းပတ္ထနာကြောင့် ထိုကျောင်းတော်၏ ပတ်ဝန်းကျင်တွင် ကမ္ဘာကျော် မက္ကာမြို့တော်သည် ဖြစ်ပေါ်လာ၏။ ထိုမြို့တော်ကြီးသည် အစဉ်သဖြင့် ငြိမ်းချမ်းသာယာလျက်ရှိ၏။ ကောက်ပဲသီးနှံအမျိုးမျိုးလည်း ရရှိ၏။ ကမ္ဘာ့အရပ်ရပ်မှ ထောင်ပေါင်းများစွာသော ဟာဂျီလောင်းများသည် နှစ်စဉ်နှစ်တိုင်း ထိုဌာနသို့ လာရောက် ဟဂ်ျပြုကြ၏။ ကမ္ဘာအရပ်ရပ်ရှိ သန်းပေါင်းများစွာသော မွတ်စ်လင်မ်များသည် နေ့ညဉ့်မပြတ် ဆွလာတ်ဝတ်ပြုရာ၌ ထိုကျောင်းတော်ဘက်သို့ မျက်နှာမူကြ၏။ ဤသည့် အချက်အလက်များကို ထောက်ရှုခြင်းအားဖြင့် ထိုကျောင်းတော်သည် မင်္ဂလာအပေါင်းနှင့် ပြည့်စုံ၍ ကမ္ဘာ့အဝှန်းအား တရားခမ္ဘ ပြသလျက်ရှိသည်မှာ အထင်အရှားပင် ဖြစ်ချေသည်။ ကြည့်-အလ်မနာရ်။

၁ အလ္လာဟ်အရှင်မြတ်၏ ကျောင်းတော်တွင်းသို့ ဝင်ရောက်သောသူသည် ဘေးရန်ခပ်သိမ်းမှ ကင်းငြိမ်းသွားလေသည်။

قُلْ يٰٓاَهْلَ الْكِتٰبِ لِمَ تَكْفُرُوْنَ
بِاٰيٰتِ اللّٰهِ ۖ وَاللّٰهُ شَهِيْدٌ
عَلٰى مَا تَعْمَلُوْنَ ﴿٩٨﴾

၉၈။ အသင်သည် (ထိုအထက်ကျမ်းဂန်ရရှိသူတို့အား ဤသို့)ပြောကြားပါလေ။ “အို-ကျမ်းဂန်ရရှိသူအပေါင်းတို့ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်များကို အဘယ်ကြောင့် ငြင်းပယ်ကြပါသနည်း။ စင်စစ်တမူကား အလ္လာဟ်အရှင်မြတ် သည် အသင်တို့ ပြုလုပ်သမျှသော ကိစ္စအဝဝကို ဒိဋ္ဌမျက်မြင် အသိသက်သေပင် ဖြစ်တော်မူသည်”။

قُلْ يٰٓاَهْلَ الْكِتٰبِ لِمَ تَصُدُّوْنَ
عَنْ سَبِيْلِ اللّٰهِ مَنْ اٰمَنَ
تَبْغُوْنَهَا عِوَجًا وَّاَنْتُمْ
شُهَدَآءُ ۗ وَمَا اللّٰهُ بِغَافِلٍ
عَمَّا تَعْمَلُوْنَ ﴿٩٩﴾

၉၉။ (အို-နဗီတမန်တော်) အသင်သည် (ယင်းအထက်ကျမ်းဂန်ရရှိသူတို့အား ဤသို့)ပြောကြားပါလေ။ “အို-ကျမ်းဂန်ရရှိသူအပေါင်းတို့ အသင်တို့သည် ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိသူတို့အား အလ္လာဟ်အရှင်မြတ်၏ တရားလမ်းတော်မှ ထိုတရားလမ်းတော်၌ ကွေ့ကောက်မှုကို ရှာဖွေစူးစမ်း (ဖန်တည်း)ကာ အဘယ်ကြောင့် ပိတ်ပင်တားဆီးကြပါသနည်း။ စင်စစ်တမူကား (အလ္လာဟ်အရှင်မြတ်၏ တရားလမ်းစဉ် မှန်ကန်ကြောင်းနှင့်စပ်လျဉ်း၍) အသင်တို့ကိုယ်တိုင်ပင်လျှင် အသိသက်သေများဖြစ်ကြကုန်၏။ ထို့မှတပါး အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ပြုလုပ်ကြကုန်သော ကိစ္စအရပ်ရပ်တို့ကို မေ့လျော့လျစ်လျူရှုတော်မူမည့် အရှင်လည်း မဟုတ်ချေ။

يٰٓاَيُّهَا الَّذِيْنَ اٰمَنُوْٓا اِنْ
تُطِيْعُوْا فَرِيْقًا مِّنَ الَّذِيْنَ
اُوْتُوا الْكِتٰبَ يَرُدُّوْكُمْ بَعْدَ
اِيْمَانِكُمْ كٰفِرِيْنَ ﴿١٠٠﴾

၁၀၀။ အို-“မုအ်မင်န်” ယုံကြည်သူအပေါင်းတို့ အကယ်၍ အသင်တို့သည် (အထက်)ကျမ်းဂန်ရရှိသူတို့အနက် လူတစု(၏စကား)ကို လိုက်နာကြပါမူ ယင်းသူတို့သည် အသင်တို့အား အသင်တို့ ယုံကြည်ခြင်းသဒ္ဓါတရား ထားရှိကြပြီးနောက် ကာဖိရ် မယုံမကြည် သွေဖည်ငြင်းပယ်သောသူများအဖြစ်သို့ ပြန်လည်ရောက်ရှိစေကြကုန်အံ့။

وَكَيْفَ تَكْفُرُونَ وَأَنْتُمْ تُتْلَىٰ
عَلَيْكُمْ آيَاتُ اللَّهِ وَفِيكُمْ رَسُولُهُ ۗ
وَمَنْ يَعْتَصِمْ بِاللَّهِ فَقَدْ هُدِيَ
إِلَىٰ صِرَاطٍ مُسْتَقِيمٍ ﴿١٠١﴾

**၁၀၁။** ၎င်းပြင် အသင်တို့သည် မည်သည့်နည်းဖြင့် မယုံမကြည် သွေဖည် ငြင်းပယ်နိုင်ကြအံ့နည်း။ စင်စစ်တမူကား အလ္လာဟ်အရှင်မြတ်၏ အာယသ်တော်များလည်း အသင်တို့ရှေ့ဝယ် ဘတ်ကြားလျက် ရှိ၏။ ထိုမှတပါး ထို(အလ္လာဟ်)အရှင်မြတ်၏ ရစူလ်တမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) သည်လည်း အသင်တို့အတွင်း၌ ရှိနေလေပြီ။

စင်စစ်သော်ကား မည်သူမဆို အလ္လာဟ် အရှင်မြတ်ကို မြဲမြံစွာ ဖက်ကိုင်၍ ထားပါလျှင် ထိုသူသည် ဖြောင့်မတ်မှန်ကန်သောတရားလမ်းစဉ်သို့ ဧကန်မလွဲ ညွှန်ကြားပြသခြင်း ခံရလတ္တံ့။

يَا أَيُّهَا الَّذِينَ آمَنُوا اتَّقُوا اللَّهَ
حَقَّ تُقَاتِهِ وَلَا تَمُوتُنَّ إِلَّا
وَأَنْتُمْ مُسْلِمُونَ ﴿١٠٢﴾

**၁၀၂။** အို-(မုအ်မင်န်) ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကို ကြောက်ရွံ့ ရှိသေအပ်သည့်အတိုင်း ကြောက်ရွံ့ကြလေကုန်။ ၎င်းပြင် မွတ်စ်လင်မ်များအဖြစ်မှတပါး အခြားအဖြစ်နှင့် မသေဆုံးကြကုန်လင့်။

وَاعْتَصِمُوا بِحَبْلِ اللَّهِ جَمِيعًا
وَلَا تَفَرَّقُوا ۚ وَاذْكُرُوا نِعْمَتَ اللَّهِ

**၁၀၃။** ထို့ပြင်တဝ အသင်တို့သည် တစည်းတလုံးတည်း *အလ္လာဟ်အရှင်မြတ်၏ကြိုးကို* [၁] စွဲမြဲစွာ ကိုင်ထားကြလေကုန်။ ၎င်းပြင် အသင်တို့သည် အချင်းချင်း သွေးမကွဲကြကုန်လင့်။

(၁) ကုရ်အာန်ကျမ်းတတ် ပါရဂူများသည် "အလ္လာဟ်အရှင်မြတ်၏ကြိုး"ဟူသော စကားကို ပဋိညာဉ်တော်ဟူ၍၎င်း၊ ကုရ်အာန်ကျမ်းမြတ်ဟူ၍၎င်း၊ လိုက်နာခြင်းဟူ၍၎င်း၊ စိတ်စေတနာဖြူစင်စွာဖြင့် ဝန်ချတောင်းပန်ခြင်းဟူ၍၎င်း၊ အသင်းအဖွဲ့ဟူ၍၎င်း၊ စိတ်စေတနာဖြူစင်စွာဖြင့် တဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ခြင်းဟူ၍၎င်း၊ အစ္စလာမ်သာသနာတော် ဟူ၍၎င်း၊ အသီးသီး အနက်ဖွင့် ကြပေသည်။ အဆိုပါ အနက်အရပ်ရပ်သည် အချင်းချင်း ဆက်စပ်လျက်ရှိပေသည်။ ကြည့်- ဗဟ်ရ်။

عَلَيْكُمْ إِذْ كُنتُمْ أَعْدَآءً فَأَلَّفَ بَيْنَ قُلُوبِكُمْ فَأَصْبَحْتُم بِنِعْمَتِهِۦٓ إِخْوَٰنًا وَكُنتُمْ عَلَىٰ شَفَا حُفْرَةٍ مِّنَ ٱلنَّارِ فَأَنقَذَكُم مِّنْهَا ۗ كَذَٰلِكَ يُبَيِّنُ ٱللَّهُ لَكُمْ ءَايَٰتِهِۦ لَعَلَّكُمْ تَهْتَدُونَ ١٠٣

တဖန် အသင်တို့သည် မိမိတို့ အပေါ်ဝယ် *အလ္လာဟ်အရှင်မြတ် ပြုတော်မူသော ကျေးဇူးတော်ကိုလည်း* [၁] ပြန်လည်၍ သတိရကြကုန်လော့။ အခါတပါး၌ အသင်တို့သည် (မိမိတို့အချင်းချင်း တဦးနှင့်တဦး) *ရန်သူများပင်* [၂] ဖြစ်ခဲ့ကြပေရာ ထို(အလ္လာဟ်) အရှင်မြတ်သည် အသင်တို့၏ စိတ်နှလုံးများကို ချစ်ခင်ညီညွတ် စေတော်မူခဲ့၏။ သို့ဖြစ်၍ အသင်တို့သည် (ယခုအခါ) ထိုအရှင်မြတ်၏ ကျေးဇူးတော်ဖြင့် (မိမိတို့ အချင်းချင်း) *ညီရင်းအစ်ကိုများပင်* [၃] ဖြစ်ခဲ့ကြချေပြီ။

ငင်းပြင် အသင်တို့သည် *“ဂျဟန္နမ်” ငရဲမီး၏ နှုတ်ခမ်းသို့ (လုံး၀) ရောက်ရှိခဲ့ကြပေရာ* [၄] ထို အရှင်မြတ်သည် အသင်တို့အား (အစ္စလာမ် သာသနာတော်တွင်းသို့ သွတ်သွင်းချီးမြှင့်တော်မူခြင်း အားဖြင့်) ယင်းငရဲမီးမှ ကယ်ဆယ်တော်မူခဲ့လေပြီ။

ဤသို့အားဖြင့် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ဒေသနာတော်များကို ထင်ရှားစေတော်မူ၏။ သို့မှသာလျှင် အသင်တို့သည် တရားလမ်းမှန်ကို ရရှိကြပေမည်။

---

(၁) အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်တွင် နောင်တမလွန်ဘ၀၏အောင်မြင်မှုပါဝင်သည့်အပြင် ပစ္စက္ခလောက၌ ညီညွတ်မှု၏ အကျိုးတရားဖြစ်သော လောကီအောင်မြင်မှုလည်း အကျုံးဝင်လျက်ရှိပေသည်။ ကြည့်-မာဂျိဒီ။

(၂) အစ္စလာမ် သာသနာ မထွန်းကားမီ အမိုက်ခေတ်တွင် ‘အောက်စ်’ နှင့် ‘ခဇ်ရဂျ်’ လူမျိုးစု များသည် အချင်းချင်း ရန်ဘက်များ ဖြစ်ခဲ့ကြ၏။ ကျန် အရဗ်လူမျိုးစုများသည်လည်း မပြောပလောက်သော သာမန်ကိစ္စကလေးများကို အကြောင်းပြုပြီး အချင်းချင်း စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခဲ့ကြ၏။ ယင်း သူတို့၏ စစ်ပွဲများသည် ရာဇဝင်တွင် စကားပုံတခုပင် ဖြစ်နေပေတော့၏။ အရဗ်လူမျိုးစုများတွင် ဖြစ်ပွားခဲ့သော စစ်ပွဲများအနက် ရာဇဝင်တွင် စစ်ပွဲပေါင်း ၁၇၀၀ တိတိကို ယခုတိုင် တွေ့ရှိရပေသေးသည်။

(၃) အစ္စလာမ်သာသနာ မထွန်းကားမီ အရဗ်လူမျိုးစုတို့၏ စစ်ပွဲများသည် ရာဇဝင်တွင်သကဲ့သို့ အစ္စလာမ်သာသနာ ထွန်းကားပြီးသည့်နောက်တွင်မူ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော် အဟုန်ကြောင့် ယင်းသူတို့၏ ➤➤

وَلْتَكُن مِّنكُمْ أُمَّةٌ يَدْعُونَ
إِلَى الْخَيْرِ وَيَأْمُرُونَ
بِالْمَعْرُوفِ وَيَنْهَوْنَ عَنِ
الْمُنكَرِ ۚ وَأُولَٰئِكَ هُمُ
الْمُفْلِحُونَ ﴿١٠٤﴾

**၁၀၄။** ၎င်းပြင် အသင်တို့တွင် (အကြင်သို့သော) အဖွဲ့အစည်းတခု ရှိရပေမည်။ ထိုအဖွဲ့အစည်းသည် (လူသားတို့အား) ကောင်းရာကောင်းကြောင်းဘက်သို့ ဖိတ်ခေါ်ကြရမည်။ ထို့ပြင် ကောင်းမြတ်သောအရာများကို ညွှန်ကြားကြရမည်။ ၎င်းပြင် ထိုအဖွဲ့အစည်းသည် မကောင်းမှုများမှ မြစ်တားကြရမည်။ ဤသို့သော သူများသည်ပင်လျှင် (လုံး၀) အောင်မြင်မည့်သူများ ဖြစ်ကြပေသတည်း။

وَلَا تَكُونُوا كَالَّذِينَ تَفَرَّقُوا
وَاخْتَلَفُوا مِن بَعْدِ مَا
جَاءَهُمُ الْبَيِّنَاتُ ۚ وَأُولَٰئِكَ لَهُمْ
عَذَابٌ عَظِيمٌ ﴿١٠٥﴾

**၁၀၅။** ၎င်းပြင် အသင်တို့သည် အကြင်သူများကဲ့သို့ မဖြစ်ကြကုန်လင့်၊ ယင်းသူတို့သည် (အလ္လာဟ် အရှင်မြတ်၏ တခုတည်းသော သာသနာကို တစည်းတလုံးတည်း မလိုက်နာကြဘဲ) အချင်းချင်း ကွဲကြသည့်အပြင် မိမိတို့ထံ (အလ္လာဟ်အရှင်မြတ် ၏) ထင်ရှားလှစွာသော သက်သေသာဓကများ ရောက်ရှိလာပြီးသည့် နောက်တွင်လည်း (ဂုဏ်တု ဂုဏ်ပြိုင်ပြုလိုကြ၍) အချင်းချင်းကွဲလွဲခဲ့ကြကုန်၏။ အမှန်သော်ကား ယင်း(ကဲ့သို့သော) သူတို့အဘို့သာလျှင် ကြီးလေးသော အပြစ်ဒဏ်သည် ရှိပေသည်။

يَوْمَ تَبْيَضُّ وُجُوهٌ وَتَسْوَدُّ
وُجُوهٌ ۚ فَأَمَّا الَّذِينَ اسْوَدَّتْ

**၁၀၆။** ထို(လာလတ္တံ့သော ရှင်ပြန်ထမည့်) နေ့၌ များစွာသော (သူတို့၏) မျက်နှာများသည် (ကျက်သရေမင်္ဂလာနှင့် ပြည့်စုံ၍ သန့်ရှင်း ကြည်လင်) ဖြူစင်စွာ ရှိကြကုန်အံ့။

---

➤➤ ချစ်ခင်မှု၊ ရင်းနှီးမှု၊ ညီညွတ်မှု၊ စိတ်စေတနာ ဖြူစင်မှုများသည် အထူးသဖြင့် မက္ကာမြို့သား 'မုဟာဂျိရ်'များနှင့် မဒီနာမြို့သား အန်ဆွာရ်များ၏ ညီနောင်များဖြစ်မှုသည်လည်း ရာဇ၀င်တွင်ခဲ့ပေသည်။ (မာဂျိဒီ)။

⑨ အရဗ်လူမျိုးစုများသည် 'ကာဖိရ်'မွှရ်ရစ်က်' ဖြစ်ခဲ့ကြခြင်းကြောင့် ငရဲတွင်း၏နှုတ်ခမ်းပေါ်သို့ပင် ရောက်လျက်ရှိခဲ့ကြ၏။ (တနည်း) ငရဲလားအံ့ဆဲဆဲပင် ဖြစ်နေခဲ့ကြ၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် ယင်းသူတို့အား အစ္စလာမ်သာသနာတော်ကို ချီးမြှင့်တော်မူ၍ ငရဲမီးဘေးမှ ကယ်ဆယ်တော်မူလိုက်လေသည်။ (ထာနဝီ)။

وُجُوهُهُمْ أَكَفَرْتُمْ بَعْدَ إِيمَانِكُمْ فَذُوقُوا الْعَذَابَ بِمَا كُنْتُمْ تَكْفُرُونَ ١٠٦

သို့ရာတွင် များစွာသော (သူတို့၏) မျက်နှာများမှာမူကား (ဣန္ဒြေကင်းမဲ့) လျက် မည်းနက်စွာ ရှိကြကုန်အံ့။

ထိုအခါ မည်းနက်သော မျက်နှာရှင်တို့အား "အသင်တို့သည် ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိပြီးနောက် သွေဖည်ငြင်းပယ် ခဲ့ကြသည် မဟုတ်လော၊ သို့ဖြစ်ပေရာ အသင်တို့သည် မိမိတို့ ငြင်းပယ်သွေဖယ် ခဲ့ကြသည့်အတွက် အပြစ်ဒဏ်၏ အရသာကို မြည်းစမ်းကြကုန်လော့" (ဟု မိန့်ကြားတော်မူပေမည်)။

وَأَمَّا الَّذِينَ ابْيَضَّتْ وُجُوهُهُمْ فَفِي رَحْمَةِ اللَّهِ هُمْ فِيهَا خَالِدُونَ ١٠٧

**၁၀၇။** သို့ရာတွင် (ကျက်သရေမင်္ဂလာနှင့်ပြည့်စုံ၍) မျက်နှာသန့်ရှင်းကြည်လင် ဖြူစင်သောသူတို့မူကား အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်၌ ရှိကြ၍ ထိုကရုဏာတော်၌ပင် ထာဝစဉ် တည်နေကြမည့် သူများ ဖြစ်ကြပေသတည်း။

تِلْكَ آيَاتُ اللَّهِ نَتْلُوهَا عَلَيْكَ بِالْحَقِّ وَمَا اللَّهُ يُرِيدُ ظُلْمًا لِلْعَالَمِينَ ١٠٨

**၁၀၈။** (အို- နဗီတမန်တော်) ဤသည်တို့ကား အလ္လာဟ်အရှင်မြတ်၏ အာယသ်တော်များတည်း။ ငါအရှင်မြတ်သည် ထိုအာယသ်များကို မှန်ကန်စွာ ဖြင့် အသင်အား ကြားနာစေတော်မူ၏။ အမှန် သော်ကား အလ္လာဟ်အရှင်မြတ်သည် စကြာဝဠာ ခပ်သိမ်းတို့ကို အနည်းငယ်မျှပင် မတရားပြုရန် ကြံရွယ်တော်မူသည် မရှိချေ။

وَلِلَّهِ مَا فِي السَّمَاوَاتِ وَمَا فِي الْأَرْضِ وَإِلَى اللَّهِ تُرْجَعُ الْأُمُورُ ١٠٩

**၁၀၉။** ထို့ပြင်တဝ ကောင်းကင်ဘုံများနှင့် ပထဝီမြေဝယ် ရှိရှိသမျှတို့သည် အလ္လာဟ်အရှင်မြတ် ပိုင်ဆိုင်တော်မူသောအရာများသာ ဖြစ်ကြကုန်၏၊ တဖန် အရေးကိစ္စ ဟူသမျှတို့သည် အလ္လာဟ်အရှင်မြတ် အထံတော်သို့သာလျှင် ပြန်လည်ရောက်ရှိကြလတ္တံ့။

كُنْتُمْ خَيْرَ أُمَّةٍ أُخْرِجَتْ لِلنَّاسِ تَأْمُرُونَ بِالْمَعْرُوفِ وَتَنْهَوْنَ عَنِ الْمُنْكَرِ وَتُؤْمِنُونَ بِاللَّهِ ۗ وَلَوْ آمَنَ أَهْلُ الْكِتَابِ لَكَانَ خَيْرًا لَهُمْ ۚ مِنْهُمُ الْمُؤْمِنُونَ وَأَكْثَرُهُمُ الْفَاسِقُونَ ﴿١١٠﴾

**၁၁၀။** (အို–မွတ်စ်လင်မ်အပေါင်းတို့) အသင်တို့သည် လူခပင်းတို့အဘို့ (တရားဓမ္မ ညွှန်ကြားရန်အလို့ငှာ) ထွက်ပေါ် လာကြကုန်သော *အကောင်းဆုံးသော သာသနာ၀င် လူစုပင်တည်း။* [၁] (အကြောင်းမူကား) အသင်တို့သည် ကောင်းမြတ်သော ကိစ္စများကို (ပြု လုပ်ကြရန်) ညွှန်ကြားကြသည့်ပြင် စက်ဆုပ် ရွံ့ရှာ ဘွယ်ရာများမှလည်း မြစ်တားကြကုန်၏။ ထိုမှတပါး အသင်တို့သည် *အလ္လာဟ်အရှင်မြတ် ကိုလည်း ယုံကြည်ကြကုန်၏။* [၂]

အကယ်၍သာ (အထက်) ကျမ်းဂန်ရရှိသူတို့ သည်လည်း (အသင်တို့ကဲ့သို့ပင်) ယုံကြည်ကြပါမူ၊ မုချ ယင်းသူတို့အဘို့ (ထိုယုံကြည်ခြင်းသည်) သာ၍ ပင် ကောင်းချေသည်။ *ယင်းသူတို့အနက်မှ (အချို့) ယုံကြည်သော သူများလည်း ရှိကြပေသည်။* [၃] သို့ရာ တွင် ထိုသူများအနက် အများဆုံးသော သူများ မှာမူကား အမိန့်တော်ကိုမနာခံသူများ (ဝါ) (ကာဖိရ် များ) သာ ဖြစ်ကြပေသတည်း။

---

(၁) ဤအာယသ်တော်တွင်အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့အား 'ခိုင်ရအွန်မတ်'၊ "အကောင်းဆုံးသော သာသနာ၀င်လူစု" ဟူသောကောင်းမွန် မြင့်မြတ်လှသည့် ဂုဏ်ပုဒ်ကို ခြီးမြှင့် တော် မူ၍ ယင်းသူတို့ လိုက်နာ ကျင့်သုံးရမည့် တာဝန်ဝတ္တရားများကို အတည့်အလင်း ဖွင့်ဟမိန့်ဆိုထား တော်မူသည်။

မွတ်စ်လင်မ်တို့သည် အလ္လာဟ်အရှင်မြတ်အား စိတ်စေတနာ ဖြူစင်စွာဖြင့် ယုံကြည်၍ မိမိတို့၏ တာဝန် ဝတ္တရားများကို ကျေပြွန်စွာ ဆောင်ရွက်သည်နှင့်အမျှ 'ခိုင်ရအွန်မတ်' ဟူသော ဂုဏ်ပုဒ်ကို ဆောင်နိုင်ကြပေမည်။ ယင်းသို့မဟုတ်ပါမူ၊ 'ထိုဂုဏ်ပုဒ်ကို အသို့လျှင် ဆောင်နိုင်ကြအံ့နည်း။ မာဂျိဒီ။

(၂) အလ္လာဟ်အရှင်မြတ်အား ယုံကြည်ရာတွင် အစ္စလာမ်သာသနာရေးနှင့် စပ်လျဉ်း၍ အခြားယုံကြည်ရမည့် အချက်အလက်များသည်လည်း အကျုံးဝင်လျက် ရှိပေသည်။ အဘယ်ကြောင့်ဟူမူ၊ ထိုအချက်အလက်များကို ယုံကြည်ရန်လည်း ထိုအရှင်မြတ်ကပင် ဟောကြားတော်မူခြင်းကြောင့်တည်း။ (ထာနဝီ။)

(၃) အတိတ်ခေတ် ကျမ်းဂန်ရရှိသူများ အနက် အချို့ 'အီမါန်' ယုံကြည်ခြင်း သဒ္ဓါတရားထားရှိသော သူများလည်း ရှိခဲ့ကြ၏။ ဥပမာ သာဝကကြီး အဗ်ဒုလ္လာဟ် အီဗ်နုစလာမ်၊ ဆအ်လဗဟ် အီဗ်နုရှုအ်ဗဟ်။ ထိုသာဝကကြီးများသည် ယခင်က ယဟူဒီဖြစ်ခဲ့ကြ၏။ နောက်တွင်မူ အစ္စလာမ် သာသနာကို သက်ဝင်ယုံကြည် လာခဲ့ကြလေသည်။

لَن يَضُرُّوكُمْ إِلَّآ أَذًى ۖ وَإِن يُقَٰتِلُوكُمْ يُوَلُّوكُمُ ٱلْأَدْبَارَ ثُمَّ لَا يُنصَرُونَ ﴿١١١﴾

၁၁၁။ ယင်း (ကျမ်းဂန် ရရှိသော) သူတို့သည် (မည်မျှပင် ရန်ရှာကြသော်လည်း) အသင်တို့အား အနည်းငယ်မျှသော အန္တရာယ် ဖြစ်စေနိုင်ရုံမျှမှအပ ဆုံးရှုံးနစ်နာ *ပျက်စီးလေအောင် အလျှင်းပြုနိုင်ကြမည် မဟုတ်ချေ။* ^၁ တဖန် အကယ်၍သာ ယင်းသူတို့သည် (တဆင့်တိုး၍) အသင်တို့နှင့် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ကြပါမူ၊ ယင်းသူတို့သည် အသင်တို့ဘက်သို့ ကျောခိုင်း၍ ထွက်ပြေးကြလတ္တံ့။ ထို့နောက် ယင်းသူတို့သည် (မည်သူ တစုံတယောက်သောသူ၏) ကူညီစောင်မခြင်းကိုမျှ ခံကြရမည် မဟုတ်ပေ။

ضُرِبَتْ عَلَيْهِمُ ٱلذِّلَّةُ أَيْنَ مَا ثُقِفُوٓا۟ إِلَّا بِحَبْلٍ مِّنَ ٱللَّهِ وَحَبْلٍ مِّنَ ٱلنَّاسِ وَبَآءُو بِغَضَبٍ مِّنَ ٱللَّهِ وَضُرِبَتْ عَلَيْهِمُ ٱلْمَسْكَنَةُ ۚ ذَٰلِكَ

၁၁၂။ ထိုသူတို့သည် မည့်သည့် နေရာ၌မဆို၊ အလ္လာဟ် အရှင်မြတ်နှင့်သော်၎င်း၊ လူတို့နှင့်သော်၎င်း၊ ပဋိညာဉ်ထားရှိသည်မှအပ နေလေရာအရပ်တိုင်းတွင် ယင်းသူတို့ အပေါ်၌ ဂုဏ်အသရေ သေးသိမ်ခြင်းသည် အတည်ပြုပြီးဖြစ်သည့်ပြင်၊ ယင်းသူတို့အား အလ္လာဟ်အရှင်မြတ်၏ အမျက်တော်သည် သင့်ခဲ့ချေပြီ။ ထိုမျှမက ယင်းသူတို့အပေါ်ဝယ် ဒုက္ခဆင်းရဲခြင်းသည်လည်း အတည်ပြုပြီး ဖြစ်ချေပြီ။

---

(၁) ဤအာယသ်တော်သည် မဒီနာမြို့တော်နှင့် မဒီနာမြို့တော်၏ ပတ်ဝန်းကျင်ရှိ ယဟူဒီများကို ရည်ညွှန်း၏။ ထိုယဟူဒီများသည် ဥစ္စာဓနေ ပေါများကြွယ်ဝလှ၏။ လက်နက်အင်အား ကြီးမားလှ၏။ ထိုယဟူဒီများသည် မက္ကာမြို့ရှိ အရဗ်မွှရှိရစ်က်များနှင့် မဒီနာမြို့ရှိ မုနာဖစ်က်များ၏ အကူအညီများကိုလည်း အထူးမြှော်ကိုးလျက်ရှိကြ၏။ ထိုအချိန်တွင် မွတ်စ်လင်မ်တို့ကား အဘက်ဘက်တွင် အင်အားနည်းပါးလျက်ရှိကြ၏၊ မျက်မြင်အားဖြင့် မွတ်စ်လင်မ်တို့သည် ယဟူဒီများကို တုဘက်နိုင်ရန် အကြောင်းအလျှင်း မရှိပေ။

ထိုအချိန်အခါမျိုးမှာပင် အလ္လာဟ်အရှင်မြတ်သည် ဤအာယသ်တော်ကို ထုတ်ပြန်ပို့ ချတော်မူ၍ အင်အားကြီးမားလှသော ထိုယဟူဒီများရှုံးနိမ့်ကြမည့်အကြောင်း ဗျာဒိတ်စကားဟောကြားတော် မူလေသည်။ သို့ဟောကြားတော်မူသည့် အတိုင်း မဒီနာမြို့နှင့် မဒီနာမြို့၏ ပတ်ဝန်းကျင်ရှိ ယဟူဒီမျိုးနွယ်များ ဖြစ်သော ဗနူကုရိုင်ဇွာဟ်၊ ဗနူနသွီရ်၊ ဗနူကိုင်ကာအ်နှင့် ခိုင်ဗရ်ရှိ ယဟူဒီအားလုံးတို့သည် ရှုံးနိမ့်ခဲ့ကြသည်မှာ ရာဇဝင် အထင်အရှားပင် ဖြစ်ချေသည်။ (မာဂျိဒီ)

بِأَنَّهُمْ كَانُوا يَكْفُرُونَ
بِآيَاتِ اللَّهِ وَيَقْتُلُونَ الْأَنْبِيَاءَ
بِغَيْرِ حَقٍّ ۚ ذَٰلِكَ بِمَا عَصَوْا
وَّكَانُوا يَعْتَدُونَ ﴿١١٢﴾

ဤ(ကဲ့သို့ ဂုဏ်အသရေ သေးသိမ်ခြင်း၊ အမျက်တော် သင့်ခြင်းနှင့် ဆင်းရဲခြင်း ဒုက္ခ ခံစားရခြင်းတို့) အကြောင်းကား ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့် ဗျာဒိတ်တော်များကို မယုံမကြည် သွေဖည် ငြင်းပယ်လေ့ ရှိခြင်းကြောင့် လည်းကောင်း၊ နဗီတမန်တော်များအား (မည်သည့် နည်းနှင့်မျှ) သတ်ဖြတ်ပိုင်ခွင့် မရှိဘဲလျက် မတရား သဖြင့် သတ်ဖြတ်လေ့ရှိခြင်းကြောင့် လည်းကောင်း ဖြစ်ချေသည်။

(တဖန်) ဤ(ကဲ့သို့ ပြစ်မှုဒုစရိုက်များ ကျူး လွန်ခြင်း) အကြောင်းကား ယင်းသူတို့သည် အမိန့် တော်ကို မနာခံခဲ့ခြင်းကြောင့်၎င်း၊ စည်းကမ်း ဖေါက် ဖျက်ခဲ့ကြခြင်း ကြောင့်၎င်း၊ ဖြစ်ပေသတည်း။

لَيْسُوا سَوَاءً ۗ مِنْ أَهْلِ
الْكِتَابِ أُمَّةٌ قَائِمَةٌ
يَتْلُونَ آيَاتِ اللَّهِ آنَاءَ
اللَّيْلِ وَهُمْ يَسْجُدُونَ ﴿١١٣﴾

**၁၁၃။** ယင်း (အထက်ကျမ်းဂန်ရရှိသော) သူတို့သည် အားလုံး မတူကြချေ။ (အမှန်စင်စစ် ထိုအထက်) ကျမ်းဂန် ရရှိသူတို့ အနက်မှပင် (မှန်ကန်သော တရားလမ်းစဉ်၌) ဖြောင့်မတ်စွာ တည်တံ့နေသော လူစုတစုသည်လည်း ရှိနေကြကုန်၏။ ယင်းသူတို့ သည် ညဥ့်ယံများ၌ အလ္လာဟ် အရှင်မြတ်၏ အာယသ်တော်များကို ရွတ်ဘတ် သရဇ္ဈာယ် ကြကုန်၏။ ၎င်းပြင် (အလ္လာဟ် အရှင်မြတ်၏ ရှေ့တော်မှောက်ဝယ်) 'စဂျ်ဒဟ်' ဦးချကြကုန်၏။

يُؤْمِنُونَ بِاللَّهِ وَالْيَوْمِ
الْآخِرِ وَيَأْمُرُونَ

**၁၁၄။** (ထိုမျှမကသေးချေ၊) ယင်းသူတို့သည် အလ္လာဟ်အရှင်မြတ်အားငင်း၊ နောက်ဆုံးနေ့ကိုငင်း ယုံကြည်ကြကုန်၏။ ထို့ပြင် ၎င်းတို့သည် ကောင်းရာ ကောင်းကြောင်းများကိုလည်း ညွှန်ကြားကြကုန်၏။

بِالْمَعْرُوفِ وَيَنْهَوْنَ عَنِ الْمُنْكَرِ وَيُسَارِعُونَ فِي الْخَيْرَاتِ ۚ وَأُولَٰئِكَ مِنَ الصَّالِحِينَ ﴿١١٤﴾

ထိုနည်းတူစွာပင် ယင်းသူတို့သည် ဒုစရိုက်မှု (အရပ်ရပ်တို့)မှလည်း တားမြစ်ကြကုန်၏။ တဖန် ထိုသူတို့သည် (မိမိတို့ကိုယ်တိုင်လည်း) ကောင်းမှု ကုသိုလ်များ ပြုလုပ်ရာတွင် သူ့ထက် ငါသာအောင် (အပတ်တကုတ်ကြိုးစားအားထုတ်၍) အဆောတလျင် ပြုလုပ်ကြကုန်၏။ စင်စစ်သော်ကား ဤသူများသည် ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည် ကြကုန်သော သူမွန် သူမြတ်များ အနက်မှပင် ဖြစ်ကြကုန်၏။

وَمَا يَفْعَلُوا مِنْ خَيْرٍ فَلَنْ يُكْفَرُوهُ ۗ وَاللَّهُ عَلِيمٌ بِالْمُتَّقِينَ ﴿١١٥﴾

**၁၁၅။** ထို့ပြင်တဝ၊ ယင်းသူတို့သည် မည်သည့် ကောင်းမှုကုသိုလ်ကိုမဆို ပြုလုပ်ကြပါမူ၊ ထိုသူတို့သည် ထိုကောင်းမှုကုသိုလ်(၏အကျိုး)ကို လက်လွတ်စေခြင်း အလျင်းခံကြရမည် မဟုတ်ပေ။

အကြောင်းတမူကား အလ္လာဟ် အရှင်မြတ် သည် ပြစ်မှုဒုစရိုက်များမှ ကြဉ်ရှောင်ကြကုန်သော သူတော်စင်အပေါင်းတို့ကို အကြွင်းမဲ့သိရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

إِنَّ الَّذِينَ كَفَرُوا لَنْ تُغْنِيَ عَنْهُمْ أَمْوَالُهُمْ وَلَا أَوْلَادُهُمْ مِنَ اللَّهِ شَيْئًا ۖ وَأُولَٰئِكَ أَصْحَابُ النَّارِ ۚ هُمْ فِيهَا خَالِدُونَ ﴿١١٦﴾

**၁၁၆။** ဧကန်အမှန် မယုံမကြည် သွေဖည်ငြင်းပယ် သောသူတို့၏ ပစ္စည်းဥစ္စာ ရတနာများသည်၎င်း၊ ယင်းသူတို့၏ သားသမီး ရတနာများသည်၎င်း (ရှင်ပြန်ထမည့်နေ့တွင်) အလ္လာဟ်အရှင်မြတ် (၏ ပြစ်ဒဏ်တော်)မှ ကာကွယ်ရန် အနည်းငယ် စိုးစဉ်းမျှပင် အလျင်း အသုံးဝင်မည် မဟုတ်ပေ။

စင်စစ် ဤသူတို့သည် ငရဲသားများပင် ဖြစ်ကြ၏။ ယင်းသူတို့သည် ထိုငရဲ၌ပင် ထာဝစဉ် နေထိုင်ခံစားကြရမည့် သူများပင်တည်း။

مَثَلُ مَا يُنْفِقُوْنَ فِيْ هٰذِهِ الْحَيٰوةِ الدُّنْيَا كَمَثَلِ رِيْحٍ فِيْهَا صِرٌّ اَصَابَتْ حَرْثَ قَوْمٍ ظَلَمُوْٓا اَنْفُسَهُمْ فَاَهْلَكَتْهُ ۭ وَمَا ظَلَمَهُمُ اللّٰهُ وَلٰكِنْ اَنْفُسَهُمْ يَظْلِمُوْنَ ﴿١١٧﴾

**၁၁၇။** ဤပစ္စုပ္ပန်ဘဝတွင် ယုံကြည်ခြင်းသဒ္ဓါတရား ကင်းမဲ့ကြကုန်သော ထို('ကာဖိရ်' မိစ္ဆာဒိဋ္ဌိ) တို့၏ လှူဒါန်းစွန့်ကြဲခြင်း၏ ဥပမာ ပုံဆောင်ချက်ကား အကြင် လေ နှင့်အလားတူ၏။ ထိုလေ၌ အလွန် ပြင်းထန်သော အအေးဓါတ်သည်ရှိ၏။ ထိုလေသည် မိမိတို့ ကိုယ်ကို နှိပ်စက်ကလူ ပြုကြကုန်သော အကြင် လူစုတစု၏ လယ်ယာကို တိုက်ခတ်၍ ထိုလယ်ယာကိုင်းကျွန်းကို (ခွေးမြွေ)ပျက်စီးစေခဲ့၏။ (ထိုနည်းပမာ ယုံကြည်ခြင်းသဒ္ဓါတရား ကင်းမဲ့သော သူတို့၏ အလှူဒါနများသည်လည်း နောင်တမလွန် ဘဝ၌ အချည်းနှီးပင် ဖြစ်ပေမည်)။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် ယင်းသူတို့အား နှိပ်စက် ညှဉ်းပန်းတော် မူသည်မဟုတ်ပေ၊ သို့ရာတွင် ယင်းသူ တို့သည် မိမိတို့ကိုယ်ကို မိမိတို့ကိုယ်တိုင်ပင် နှိပ်စက် ကလူ ပြုကြကုန်သတည်း။

يٰٓاَيُّهَا الَّذِيْنَ اٰمَنُوْا لَا تَتَّخِذُوْا بِطَانَةً مِّنْ دُوْنِكُمْ لَا يَاْلُوْنَكُمْ خَبَالًا ۭ وَدُّوْا مَا عَنِتُّمْ ۚ قَدْ بَدَتِ الْبَغْضَاۗءُ مِنْ اَفْوَاهِھِمْ ښ وَمَا تُخْفِيْ صُدُوْرُھُمْ اَكْبَرُ ۭ قَدْ بَيَّنَّا لَكُمُ الْاٰيٰتِ اِنْ كُنْتُمْ تَعْقِلُوْنَ ﴿١١٨﴾

**၁၁၈။** အို – "မုအ်မင်န်" ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိသူအပေါင်းတို့၊ အသင်တို့သည် မိမိတို့ (မွတ်စ်လင်မ်များ)အပြင် (အခြားမည်သူကိုမျှ) အကျွမ်း တဝင် ခင်မင်ရင်းနှီးသော အတွင်းသိ ချစ်ဆွေအဖြစ် မပြုကြကုန်လင့်။ (အကြောင်းတမူကား) ထိုသူတို့ သည် အသင်တို့အား မကောင်းကြံစည်ရာ၌ အကြံ အစည် လျှော့ကြမည်မဟုတ်ချေ။ (အမှန်စင်စစ်) ယင်းသူတို့သည် အသင်တို့ ဒုက္ခကြီးစွာ တွေ့ကြုံ ခြင်းကိုသာ နှစ်သက်ကြကုန်၏။ (သို့ကြောင့်) ရန်ငြိုးထားခြင်းသည် ယင်းသူတို့၏ နှုတ်များမှ မုချ ထွက်ပေါ်လာခဲ့ချေပြီ။ တဖန် ယင်းသူတို့ စိတ်နှလုံး များ၌ ကိန်းအောင်းလျက်ရှိသော အကြံအစည်များ မှာမူ၊ သာ၍ပင် ကြီးမားလှပေ၏။

အကယ်၍သာ အသင်တို့သိနားလည်ကြပါမူ၊ ငါအရှင်မြတ်သည် အသင်တို့ အကျိုးငှါ (ယင်းသူတို့ ရန်ငြိုးထားရှိကြောင်းနှင့် စပ်လျဉ်း၍) သက်သေသာဓက လက္ခဏာရပ်တို့ကို မုချထုတ်ဖော် မိန့်ကြား ထင်ရှားစေတော်မူခဲ့ပြီ ဖြစ်ချေသတည်း။

**၁၁၉။** ကြည့်စမ်း၊ ဟယ်- ("မုအ်မင်န်" ယုံကြည်သူ အပေါင်းတို့) အသင်တို့သည် (သာလျှင်) ယင်းသူတို့အား ချစ်ခင် မြတ်နိုးကြကုန်၏။ သို့ရာတွင် ထိုသူတို့မူကား အသင်တို့အား (အလျှင်း) ချစ်ခင် မြတ်နိုးကြသည်မဟုတ်ချေ။ ၎င်းပြင် အသင်တို့သည် (ကောင်းကင်မှ ကျရောက်လာသော) ကျမ်းဂန် အလုံးစုံတို့ကို ယုံကြည်ကြကုန်သည်။ (ထိုသူတို့ကား ဤသို့မဟုတ်ချေ)

ထိုမှတပါး ယင်းသူတို့သည် အသင်တို့နှင့် တွေ့ဆုံကြသောအခါ "အကျွန်ုပ်တို့သည် ယုံကြည်ခြင်းသဒ္ဓါတရား ထားရှိကြပါပြီ" ဟု ပြောဆိုကြကုန်၏။ သို့ရာတွင် (အသင်တို့ကွယ်ရာတွင်) တကိုယ်ထီးတည်း ဖြစ်ကြလေသောအခါ အသင်တို့ အပေါ်ဝယ် အမျက်ဒေါသထွက်ခါ (မိမိတို့၏) လက်ချောင်းများကိုပင် ကိုက်ခဲကြကုန်သည်။

(အို- နဗီတမန်တော်) အသင်သည် ယင်းသူတို့အား ("အချင်းတို့) အသင်တို့သည် မိမိတို့ အမျက်ဒေါသနှင့်ပင် သေကြကုန်လော့" ဟု ပြောကြားပါလေ။ မုချဧကန် အလ္လာဟ် အရှင်မြတ်သည် စိတ်နှလုံးများ၌ရှိသော အရာများကို အကြွင်းမဲ့ သိရှိတော်မူသော အရှင်မြတ်ပင်တည်း။

هَٰٓأَنتُمْ أُوْلَآءِ تُحِبُّونَهُمْ وَلَا يُحِبُّونَكُمْ وَتُؤْمِنُونَ بِٱلْكِتَٰبِ كُلِّهِۦ وَإِذَا لَقُوكُمْ قَالُوٓاْ ءَامَنَّا وَإِذَا خَلَوْاْ عَضُّواْ عَلَيْكُمُ ٱلْأَنَامِلَ مِنَ ٱلْغَيْظِ قُلْ مُوتُواْ بِغَيْظِكُمْ إِنَّ ٱللَّهَ عَلِيمُۢ بِذَاتِ ٱلصُّدُورِ ﴿١١٩﴾

إِنْ تَمْسَسْكُمْ حَسَنَةٌ تَسُؤْهُمْ وَإِنْ تُصِبْكُمْ سَيِّئَةٌ يَفْرَحُوا بِهَا ۖ وَإِنْ تَصْبِرُوا وَتَتَّقُوا لَا يَضُرُّكُمْ كَيْدُهُمْ شَيْئًا ۗ إِنَّ اللَّهَ بِمَا يَعْمَلُونَ مُحِيطٌ ﴿١٢٠﴾

၁၂၀။ အကယ်၍ အသင်တို့၌ ကောင်းကျိုးချမ်းသာ တစုံတရာ ဖြစ်ပေါ်လာခဲ့ပါမူ၊ ထိုသူတို့အား စိတ်ဒုက္ခ ရောက်စေ၏။ သို့ရာတွင် အသင်တို့၌ တစုံတရာ ဘေးအန္တရာယ် ဆိုက်ရောက်သည်ရှိသော်၊ ယင်းသူတို့သည် ဝမ်းသာအားရ ဖြစ်ကြလေသတည်း။

အမှန် စင်စစ်သော်ကား အကယ်၍သာ သင်တို့သည် *သည်းခံခြင်းတရား ထားရှိ၍* ① ပြစ်မှုစရိုက်များမှ ကြဉ်ရှောင်ကြပါမူ၊ ထိုသူတို့၏ လျှို့ဝှက်ကြံစည်မှုသည် အသင်တို့အား လုံးဝ နစ်နာစေနိုင်မည် မဟုတ်ပေ။ မုချအမှန် အလ္လာဟ် အရှင်မြတ်သည် ထိုသူတို့ ပြုလုပ်ကြကုန်သော ကိစ္စအရပ်ရပ်တို့ကို အကြွင်းမဲ့ သိရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَإِذْ غَدَوْتَ مِنْ أَهْلِكَ تُبَوِّئُ الْمُؤْمِنِينَ مَقَاعِدَ لِلْقِتَالِ ۗ وَاللَّهُ سَمِيعٌ عَلِيمٌ ﴿١٢١﴾

၁၂၁။ (အို- နဗီတမန်တော်) အခါတပါး၌ အသင်သည် မိမိအိမ်သူ အိမ်သားများထံမှ (စစ်မက် ပြိုင်ဆိုင်ရန် အလို့ငှာ အုဟုဒ်တောင်ခြေသို့) နံနက် စောစော ထွက်ခဲ့၍ တပ်စွဲရန် နေရာများတွင် "မုအ်မင်န်" ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိသော သူတို့အား နေရာချပေးလျက် ရှိခဲ့သည် (ကို အသင်သည် ပြန်လည်၍ သတိရှိပါလေ)။

① အစ္စလာမ်သာသနာ၏ ရန်သူကြီးငယ်တို့သည် မွတ်စ်လင်မ်တို့အား နစ်နာ ပျက်စီးစေရန် အဘယ်မျှပင် ကြံစည် အားထုတ်ကြလင့်ကစား အကယ်၍သာ မွတ်စ်လင်မ်တို့သည် 'ဆွဗ်ရ်' နှင့် 'တက္ကဝါ' တရားများကို တကယ်ပင် လက်ဆုပ်လက်ကိုင် ပြုထားကြပါလျှင် မွတ်စ်လင်မ်တို့သည် ရန်သူတို့၏ ဘေးရန်ခပ်သိမ်းတို့မှ လွတ်ငြိမ်းနိုင်ကြပေသည်။ ဤကားမွတ်စ်လင်မ်တို့အဘို့ ရန်သူတို့၏ဘေးရန်အပေါင်းမှ လွတ်ငြိမ်းရန် ဆေးနည်းကောင်းတရပ်ပင်။(မာဂျိဒီ)

စင်စစ် အလ္လာဟ်အရှင်မြတ်သည် (ထိုအခါက အသင်တို့နှင့် တကွ အသင်တို့၏ ရန်သူများ ပြောဆိုကြသော စကားအရပ်ရပ်တို့ကို) အကြွင်းမဲ့ ကြားသိတော် မူသောအရှင်။ (အသင်တို့နှင့် တကွ အသင့်တို့၏ ရန်သူများ၏ အဖြစ်အပျက်အခြေအနေ အလုံးစုံတို့ကို) အကြွင်းမဲ့ သိရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။ [၁]

إِذْ هَمَّت طَّآئِفَتَانِ مِنكُمْ أَن تَفْشَلَا وَٱللَّهُ وَلِيُّهُمَا وَعَلَى ٱللَّهِ فَلْيَتَوَكَّلِ ٱلْمُؤْمِنُونَ ﴿١٢٢﴾

၁၂၂။ ထိုအချိန်တွင် အသင်(မွတ်စ်လင်မ်)တို့အနက်မှ လူစုနှစ်စုကားအားလျှော့(၍လှည့်ပြန်ကြ)ရန် ကြံရွယ်ခဲ့ကြလေသည်။ အမှန်စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည် ထိုလူစုနှစ်စုလုံးကိုပင် စောင့်ရှောက်လျက် ရှိတော်မူခဲ့သည်။

သို့ဖြစ်ရာ ယုံကြည်ခြင်းသဒ္ဓါတရား ထားရှိကြကုန်သော "မုအ်မာန်" အပေါင်းတို့သည် အလ္လာဟ် အရှင်မြတ်ကိုသာလျှင် ယုံကြည်စိတ်ချ၍ အားကိုးအားထား)ပြုထိုက်ချေသည်။

---

(၁) **အုဟုဒ်စစ်ပွဲ**

ဟစ်ဂျ်ရီ သက္ကရာဇ် ၂- ခုနှစ်တွင် 'ဗဒ်ရ်' စစ်ပွဲဖြစ်ပွားခဲ့၏။ ထိုစစ်ပွဲတွင် မက္ကာမြို့သား ကာဖိရ်များသည် အကြီးအကျယ် စစ်ရေးရှုံးနိမ့်ခဲ့ကြ၏။ မက္ကာမြို့သား ကာဖိရ်များသည် 'ဗဒ်ရ်' စစ်ပွဲတွင် မိမိတို့၏စစ်ရေးရှုံးနိမ့်ခဲ့သည်ကို လက်စားချေရန်အတွက် စစ်သည် ၃၀၀၀-ဖြင့် မဒီနာမြို့၏မြောက်ဘက် ၃-မိုင်ခန့်အကွာတွင်တည်ရှိသော 'အုဟုဒ်' တောင်ခြေသို့ချီတက်လာခဲ့ကြ၏။ ကာဖိရ်တို့၏ စစ်သည် ၃၀၀၀-တွင် သံချပ်အင်္ကျီဝတ်ဆင်ထားသော စစ်သည် ၇၀၀-ပါရှိ၏။ မြင်းစီးသူရဲ ၂၀၀-ပါရှိ၏။ ကျန်စစ်သည်များသည် ကုလားအုဋ်စီးသူရဲများဖြစ်ကြသည်။ ဤစစ်ပွဲတွင် ကာဖိရ်တို့ ဘက်မှ အကြီးအကဲများ အားလုံးလိုလိုပင် ပါဝင်ခဲ့ကြသည်။ စစ်သည်များ၏ စိတ်ဓါတ်များကို လှုံ့ဆော်ပေးရန် အမျိုးသမီးများကလည်း ပါဝင်ဆင်နွှဲခဲ့ကြ၏။

ထိုကာဖိရ် စစ်သည်တော်များအား ခုခံတိုက်ခိုက်ရန်အလို့ငှါ နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် စစ်သည်တော် ၁၀၀၀-နှင့်အတူ မဒီနာမြို့မှထွက်၍ 'ရှောက်တ်' အမည်ရှိသော နေရာသို့ ရောက်ရှိလာတော်မူသောအခါ အဗ်ဒုလ္လာဟ်အိဗ်နုအုဗိုင်ယ်က "ကျွန်ုပ်၏ဆန္ဒမှာ မြို့တွင်းမှနေပြီး ခုခံ တိုက်ခိုက်ရန်ဖြစ်သည်။ သို့သော် (တမန်တော်)မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကျွန်ုပ်၏ အကြံဉာဏ်ကို လက်မခံပါ" ဟု ပြောဆိုကာ မိမိဘက်တော်သား ၃၀၀-ခေါ်ဆောင်၍ မြို့တွင်းသို့ ➤➤

➤➤ ပြန်သွားလေသည်။ ဤအခြင်းအရာကို တွေ့မြင်သော ဗနူစလိမဟ်နှင့် ဗနူဟာရိဆဟ် မျိုးနွယ်စုနှစ်စုသည်လည်း စိတ်ဓါတ်လျှော့ရန် တွေးတောခဲ့ကြ၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကြောင့် ထိုမျိုးနွယ်နှစ်စုသည် နောက်ဆုံးတွင် စိတ်ဓါတ်ကြံ့ခိုင်လာပြီး နဗီတမန်တော်နှင့် တကွ စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ရန် သဘောတူခဲ့ကြ၏။

ဤသို့အားဖြင့် နဗီတမန်တော်နှင့်အတူ အုဟုဒ် စစ်မြေပြင်သို့ ချီတက်သွားသော မွတ်စ်လင်မ် စစ်သည်တော်များမှာ ၇၀၀-သာလျှင်ဖြစ်၏။ ထိုစစ်သည်တော် ၇၀၀-တွင်လည်း သံချပ်အင်္ကျီဝတ်ဆင်နိုင်သော စစ်သည်တော်များမှာ ၂၀၀-မျှသာဖြစ်၏။ အစီးနင်းမှာလည်း စစ်တပ်တတပ်လုံးတွင် နဗီတမန်တော်၏ အစီးအနင်းအပြင် မြင်းတစ်ကောင် သာလျှင် ပါရှိ၏။ ဤစစ်ပွဲ၌ မွတ်စ်လင်မ်တို့ဘက်တွင် စစ်သည်တော်လည်း နည်း၏ လက်နက်အင်အားလည်း ချို့တဲ့လှ၏။

နဗီတမန်တော်သည် စစ်သည်တော် ၇၀၀-နှင့်အတူတကွ အုဟုဒ်တောင်ခြေသို့ ချီတက်တော်မူ၍ အုဟုဒ်တောင်ကို နောက်ခံထားပြီး စစ်သည်တော်များအား စံနစ်တကျ နေရာချတော်မူ၏။ အုဟုဒ်တောင်၏ နောက်ကျောဘက်မှ ရန်သူများ တက်ရောက်ကျော်နင်းမလာနိုင်ရန်အတွက် တမန်တော်သည် လေးသည်တော် ၅၀-အား ထိုတောင်ထိပ်ပေါ်တွင် နေရချထားတော်မူ၏။ ထိုလေးစစ်သည်တော်များ အပေါ်တွင် အဗ်ဒုလ္လာဟ် အီဗ်နုဂျုဗိုင်ရ်အား တပ်မိုလ်အဖြစ် ခန့်တော်မူပြီး " ငါတို့သည် စစ်မြေပြင်တွင် အောင်နိုင်လင့်ကစား အသင့်တို့သည် မိမိတို့နေရာမှ မရွေ့ကြနှင့်" ဟုမှာကြားထားတော်မူခဲ့၏။

ကာဖိရ် စစ်သည်များနှင့် မွတ်စ်လင်မ် စစ်သည်တော်များ စတင်တိုက်ခိုက်ကြရာတွင် မွတ်စ်လင်မ်တို့သည် အောင်နိုင်ကြလေသည်။ ထို့သို အောင်နိုင်ကြသည့်အခါတွင် တောင်ပေါ်၌ အစောင့်ချထားသော လေးသည်တော်များအနက် ၁၂-ဦးမှအပ ကျန်လေးသည်တော်များသည် မိမိတို့ တပ်မိုလ်ဖြစ်သော သာဝကကြီး အဗ်ဒုလ္လာဟ်အီဗ်နုဂျုဗိုင်ရ်က တောင်ခြေသို့ ဆင်းမသွားရန် အကြိမ်ကြိမ် တားမြစ်သည်ကိုပင် နားမထောင်ဘဲ တောင်ခြေသို့ ဆင်းလာခဲ့လေသည်။

ထိုသို့လေးသည်တော်များ တောင်ထိပ်မှဆင်းလာသောအခါ ရန်သူတို့ဘက်မှ ခါလစ်ဒ်အီဗ်နုဝလီဒ်သည် မိမိစစ်သည်များနှင့်အတူ တောင်ထိပ်သို့ တက်လာပြီးလျှင် တောင်ထိပ်ရှိ မွတ်စ်လင်မ် လေးသည်တော် ၁၂-ဦးတို့အား တိုက်ခိုက်ကြ၏။ မွတ်စ်လင်မ် လေးသည်တော်များသည် အင်းအားချင်း မမျှသဖြင့် အသီးသီးကျဆုံးသွားရှာခဲ့လေ၏။ ထိုအချိန်တွင် ခါလစ်ဒ်အီဗ်နုဝလီဒ်၏ စစ်သည်တော်များသည် တောင်ထိပ်မှနေ၍ မွတ်စ်လင်မ် စစ်သည်တော်များ အပေါ်သို့ မြှားမိုးများ ရွာချလေရာ မွတ်စ်လင်မ် စစ်သည်တော်များ ကစဥ့်ကလျား ဖြစ်သွားခဲ့ကြရလေသည်။ စစ်ပွဲပြီးဆုံး၍ ကာဖိရ်စစ်သည်တော်များ တပ်လန်သွားကြသည်အခါ ကာဖိရ် စစ်သည်များသည် ပြန်လှန် မတိုက်ခိုက်နိုင်ကြရန်အတွက် ရန်သူတို့၏နောက်သို့ တမန်တော်မြတ်ကိုယ်တိုင်ပင် မွတ်စ်လင်မ်စစ်သည်တော် ၇၀နှင့်အတူတကွ ချီတက်သွားတော်မူလေသည်။

ဤစစ်ပွဲတွင် မွတ်စ်လင်မ်တို့သည် စစ်ရေးအောင်နိုင်ကြသော်လည်း မွတ်စ်လင်မ်စစ်သည်တော် ၇၀-တိတိ 'ရှဟီဒ်' ဖြစ်ကြလေသည်။ အဂ္ဂသာဝကကြီး ဟမ်ဇဟ်သခင်လည်း ဤစစ်ပွဲမှာပင် ရှဟီဒ် ဖြစ်ရရှာသည်။ ဤစစ်ပွဲမှာပင် တမန်တော်မြတ်၏ သွားတော်တချောင်း ပဲ့စင်သွားရှာ၏ မျက်နှာတော်လည်း အနည်းငယ် ဒဏ်ရာရ၏။ ဤစစ်ပွဲအကြောင်းကား ရှည်လျားလှ၏ တရားရဘွယ်လည်း ကောင်းလှ၏။ သို့ပင် တစေလည်း ကျမ်းလေးမည်စိုး၍ ဤမျှနှင့်ပင် ဤအကြောင်းကို နိဂုံးချုပ်လိုက်ရပေသည်။ အကျယ်သိလိုပါက 'စီရတွန်နဗီကျမ်းတွင်ရှုပါကုန်'။

وَلَقَدْ نَصَرَكُمُ اللّٰهُ بِبَدْرٍ وَّاَنْتُمْ اَذِلَّةٌ ۚ فَاتَّقُوا اللّٰهَ لَعَلَّكُمْ تَشْكُرُوْنَ ﴿١٢٣﴾

၁၂၃။ အသင်တို့သည် ဗဒ်ရ် (စစ်ပွဲ၌) [1] အင်အားချည့်နဲ့နေခိုက် [2] အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား ကေန်အမှန် ကူညီတော် မူခဲ့ချေပြီ။ သို့ဖြစ်ပေရာအသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ သို့မှသာလျှင် အသင်တို့သည် (အလ္လာဟ် အရှင်မြတ်၏) ကျေးဇူးတော်များကို သိတတ်ကြရာသတည်း။

اِذْ تَقُوْلُ لِلْمُؤْمِنِيْنَ اَلَنْ يَّكْفِيَكُمْ اَنْ يُّمِدَّكُمْ رَبُّكُمْ بِثَلٰثَةِ اٰلٰفٍ مِّنَ الْمَلٰٓئِكَةِ مُنْزَلِيْنَ ﴿١٢٤﴾

၁၂၄။ (အို - နဗီတမန်တော်) ထိုအခါ သင်သည် (စစ်မြေပြင်၌) " မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့အား (ဤသို့) ပြောကြားလျက် ရှိခဲ့လေသည်။ [3] (ဟယ်-အချင်းတို့) အသင်တို့ကို မွေးမြူတော်မူသော အရှင်မြတ်သည် အသင်တို့အား (ထို အရှင်မြတ် အထံတော်မှ) ဆင်းသက် စေတော်မူခြင်း ခံရလေသော *'မလာအိကဟ်' အပါးတော် စေတမန် သုံးထောင်ဖြင့်* [4] ကူညီစောင်မတော်မူခြင်းသည် အသင်တို့ အဘို့မလုံလောက်ပါလော။

---

① 'ဗဒ်ရ်' သည် မဒီနာမြို့တော်၏ အနောက်တောင်ဘက် မိုင်၂၀ခန့်တွင်တည်ရှိသော ခရီးစခန်းတခု၏ အမည်ဖြစ်သည်။ ထိုစခန်းတွင် သောက်သုံးရန် ရေလုံလောက်စွာရ၏။ ထိုစခန်းတွင် ဟဂျ်ရီ သက္ကရာဇ် ၂-ခုနှစ် ရမဿွာန်လ-၂၇-ရက်သောကြာနေ့ (ခရစ်သက္ကရာဇ် ၆၂၄ခု မတ်လ ၁၁ ရက်နေ့)၌ မွတ်စ်လင်မ်တို့နှင့် မက္ကာမြို့သား မွတ်ရှ်ရစ်က်တို့အကြားတွင် ရာဇဝင်ထင်ရှားသည့် စစ်ပွဲတပွဲဖြစ်ပွားခဲ့၏။

② ဗဒ်ရ် စစ်ပွဲဖြစ်ပွားသည့် အချိန်တွင် မွတ်စ်လင်မ်တို့သည် အလွန်တရာမျှ အင်အားချည့်နဲ့ခဲ့ကြ၏။ ထိုစစ်ပွဲတွင် မွတ်စ်လင်မ် စစ်သည်တော်များမှာ ၃၁၃-မျှသာဖြစ်၏။ အစီးအနင်းအတွက် မြင်း၂ကောင် ကုလားအုဋ် ၇၀-မျှသာပါရှိ၏။

③ "ဗဒ်ရ်" စစ်မြေပြင်တွင် အရဗ်မွရှ်ရစ်က် ရန်သူတို့အား စစ်ကူပေးရန် အတွက် "ကုရ်ဇ် အိဗ်နုဂျာဗိရ်မုဟာရဗီ" သည် မိမိဘက်တော်သားများနှင့် အတူတကွ လာပြီ ဟူသော ကောလဟာလ သတင်းတစ်ရပ် ပေါက်ကြား လာသောအခါ၊ မွတ်စ်လင်မ် စစ်သည်တော်များ ပူပန်သောက ဖြစ်ကြလေသည်။ ထိုအချိန်တွင် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ မွတ်စ်လင်မ် စစ်သည်တော်များ စိတ်ဓါတ် ကြံ့ခိုင်စေရန် အလို့ငှာ ဤအာယသ်တော်တွင် ပါရှိသည့်အတိုင်း အားပေးစကား ပြောကြားတော်မူလေသည်။ စစ်မြေပြင်တွင် စစ်သည်တော်များ စိတ်ဓါတ်ကြံ့ခိုင်မှု စွမ်းရည်သတ္တိသည် အဘယ်မျှအရေးကြီးသည်ကို အထူးထုတ်ဖော်ရေးသားရန်မလိုပေ။ ကြည့်-မာဂျိဒီ။

بَلٰٓى ۙ اِنْ تَصْبِرُوْا وَتَتَّقُوْا وَيَاْتُوْكُمْ مِّنْ فَوْرِهِمْ هٰذَا يُمْدِدْكُمْ رَبُّكُمْ بِخَمْسَةِ اٰلٰفٍ مِّنَ الْمَلٰٓئِكَةِ مُسَوِّمِيْنَ ﴿١٢٥﴾

၁၂၅။ အဘယ်ကြောင့် မလုံလောက်ပါမည်နည်း။ (မုချလုံလောက်ပေမည်)။ အကယ်၍ အသင်တို့သည် ခန္တီတရားထားရှိကြပါလျှင်လည်းကောင်း၊ ထိုနည်းတူစွာ အသင်တို့သည် (မြစ်တားထားသော အချက်တို့မှ) ကြည်ရှောင်ကြပါလျှင်လည်းကောင်း၊ ထို့ပြင် ထို (ရန်)သူများသည် အသင်တို့ထံ ရုတ်တရက် တမဟုတ်ခြင်း လာရောက် (တိုက်ခိုက်)ကြပါလျှင် လည်းကောင်း၊ အသင်တို့ကို မွေးမြူတော်မူသော အရှင်မြတ်သည် *အမှတ်သညာ ထားရှိကြကုန်သော "မလာအိကဟ်" အပါးတော်စေတမန်* [၁] ငါးထောင်ဖြင့် အသင်တို့အား ကူညီစောင်မတော်မူလတ္တံ့။

---

⑨ အလ္လာဟ်အရှင်မြတ်သည် 'ဗဒ်ရ်' စစ်မြေပြင်တွင် မွတ်စ်လင်မ် စစ်သည်တော်များအား ပဌမအကြိမ်၌ 'မလာအိကဟ်' အပါးတော်စေတမန် ၁၀၀၀-စေလွှတ်၍ ကူညီတော်မူရန် ကတိပြုတော်မူခဲ့သည်။ ဒုတိယအကြိမ် အပါးတော်စေတမန် ၃၀၀၀- စေလွှတ်၍ ကူညီရန် ကတိပြုတော်မူခဲ့သည်။ တတိယအကြိမ်၌ အပါးတော်စေတမန် ၅၀၀၀- စေလွှတ်၍ ကူညီရန် ကတိပြုတော်မူခဲ့သည်။ အပါးတော်စေတမန်များ ဦးရေကို ဤသို့ အဆင့်ဆင့်တိုး၍ ကတိပြုတော်မူခြင်း၏ အကြောင်းကိုရှင်းပြဦးအံ့။

ပဌမအကြိမ်တွင် အပါးတော်စေတမန် ၁၀၀၀- စေလွှတ်၍ ကူညီရန် ကတိပြုတော်မူခြင်းမှာ မွတ်စ်လင်မ် စစ်သည်တော်များ၏ ဆုပန်ကြားချက်အရဖြစ်သည်။ ဤအကြောင်းအရာကို ကုရ်အာန်ကျမ်းမြတ် (၈း၉)တွင် အထင်အရှားတွေ့ရှိရပေသည်။

ဒုတိယအကြိမ် အပါးတော်စေတမန် ၃၀၀၀- စေလွှတ်၍ ကူညီရန်ကတိပြုတော်မူခြင်းမှာ 'ဗဒ်ရ်' စစ်မြေပြင်တွင် ရန်သူများထံသို့ စစ်ကူရောက်လာပြီဟူသော ကောလဟာလ သတင်းဖြစ်ပွား၍ မွတ်စ်လင်မ် စစ်သည်တော် များပူပင်သောက ဖြစ်ခြင်းကြောင့်ဖြစ်သည်။

တတိယအကြိမ်တွင် အပါးတော်စေတမန် ၅၀၀၀- စေလွှတ်၍ ကူညီရန် ကတိပြုတော်မူခြင်းသည် ခြွင်းချက်နှင့် ပြုထားတော်မူသော ကတိဖြစ်ပေသည်။ အကယ်၍ မွတ်စ်လင်မ် စစ်သည်တော်များသည် ခန္တီတရားကို လက်ကိုင်ထားရှိ၍ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေကြအံ့။ ၎င်းပြင်ရန်သူများကလည်း မွတ်စ်လင်မ် တို့အား တမဟုတ်ခြင်း လာရောက်တိုက်ခိုက်ကြအံ့၊ သို့ဖြစ်လျှင် အလ္လာဟ်အရှင်မြတ်သည် အပါးတော် စေတမန် ၅၀၀၀-ကို စေလွှတ်၍ ကူညီတော်မူအံ့ ဟူလို။ (ထာနဝီ)။

[အလ္လာဟ်အရှင်မြတ်သည် 'ဟုနိုင်န်' စစ်ပွဲတွင်လည်း အပါးတော်စေတမန်များကို စေလွှတ်တော်မူ၍ မွတ်စ်လင်မ် စစ်သည်တော်များအား ကူညီတော်မူခဲ့လေသည်။ ကြည့်-ကုရ်အာန် (၉း၂၆)။ ဤအကြောင်းကို သက်ဆိုင်ရာ အာယသ်တော်တွင် အကျယ်ရေးသားဦးအံ့။]

① "မုစောင်ဝိမိန်' ဟူသောစကား၏ အဓိပ္ပါယ်မှာ ' အမှတ်သညာ တပ်ဆင်ထားသောသူများ' ဟူ၍ ➤➤

وَمَا جَعَلَهُ اللّٰهُ اِلَّا بُشْرٰى لَكُمْ وَلِتَطْمَئِنَّ قُلُوْبُكُمْ بِهٖ ۗ وَمَا النَّصْرُ اِلَّا مِنْ عِنْدِ اللّٰهِ الْعَزِيْزِ الْحَكِيْمِ ﴿١٢٦﴾

၁၂၆။ အလ္လာဟ်အရှင်မြတ်သည် (တမန်တော်မြတ်၏) ထို (ပြောကြားချက်) ကို အသင်တို့အတွက် ဝမ်းမြောက်ဘွယ်ရာ သတင်း (ဖြစ်စေရန်)နှင့် ထို (ပြောကြားချက်ကို ကြားသိရခြင်း)အားဖြင့် အသင်တို့၏ စိတ်နှလုံးများတည်ငြိမ်ရန် အတွက်သာလျှင် ပြုတော်မူခဲ့လေသည်။

အမှန်စင်စစ် ကူညီမှု ဟူသည်ကား တန်ခိုးအာနုဘော်ဖြင့်လွှမ်းမိုးတော်မူသော။ အကျိုးအကြောင်းဆင်ခြင်တုံဉာဏ်နှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်၏အထံတော်မှသာလျှင် ဖြစ်ချေသည်။

لِيَقْطَعَ طَرَفًا مِّنَ الَّذِيْنَ كَفَرُوْٓا اَوْ يَكْبِتَهُمْ فَيَنْقَلِبُوْا خَآئِبِيْنَ ﴿١٢٧﴾

၁၂၇။ (၄င်းပြင် ယင်းသို့ ကူညီစောင်မတော်မူခြင်းသည်) 'ကာဖိရ်' မယုံမကြည် သွေဖည်ငြင်းပယ်ကြကုန်သော *သူတို့အနက်မှတစ်စုကို ဖျက်စီးရန်အတွက်* [၁] ဖြစ်ချေသည်။ သို့တည်းမဟုတ် ယင်းသူအား *ဂုဏ်ရည်သေးသိမ်စေရန်အတွက်* [၂] ဖြစ်သည်။ သို့ဖြစ်ပေရာ ယင်းသူတို့သည် အလိုဆန္ဒမပြည့်ဝကြဘဲလျက် ပြန်လှည့်(ဆုတ်ခွာထွက်ပြေး)ကြရပေမည်။

➤➤ ဖြစ်သည်။ ကြည့် – ရာဃိဗ်။ အထက်ပါစကား၏ အခြားအဓိပ္ပါယ်တစ်ရပ်မှာ 'တိုက်ခိုက်ချေဖျက်သူများ' ဟူ၍ လည်းဖြစ်သည်။ ကြည့်– လိစါနုလ်အရဗ်။ အဆိုပါ အဓိပ္ပါယ်နှစ်ရပ်အနက် ပဌမအဓိပ္ပါယ်ကို 'မုဖတ်စ်စိရီန်' အဋ္ဌကထာရှင်များ ပိုမို နှစ်ခြိုက်ကြပေသည်။ တိုင်းပြည်နိုင်ငံ အသီးသီးတို့ရှိ စစ်တပ်များတွင် အမှုထမ်းလျက်ရှိသော စစ်သားများသည် Uniform တမျိုးတစားတည်း၊ တပုံစံတည်း ဝတ်ဆင်ကြသည်မှာ သူငါအများအသိပင် ဖြစ်ကြ၏။ ထိုအတူ 'ဗဒ်ရ်' စစ်မြေပြင်တွင် မွတ်စ်လင်မ် စစ်သည်တော်များအား ကူညီရန်အလို့ငှာ အလ္လာဟ်အရှင်မြတ်က စေလွှတ်ရန် ကတိပြုတော်မူသော အပါးတော် စေတမန်များသည်လည်း ထူခြားသော အမှတ်သညာ ဝတ်စားတန်ဆာများကို ဆင်မြန်းလျက်ရှိကြပေသည်။ ဤကဲ့သို့ Uniform ဆင်တူဝတ်စုံ ဝတ်ဆင်လျက်ရှိသော အပါးတော် စေတမန်များအား တွေမြင်ခြင်းအားဖြင့် မွတ်စ်လင်မ် စစ်သည်တော်များ၏ စိတ်ဓါတ်ကြံ့ခိုင်လာမည်မှာ မုချပင် ဖြစ်ပေသည်။

(၁) " 'ကာဖိရ်'တို့အနက်မှ လူစုတစ်စုအား ချေဖျက်တော်မူရန်အလို့ငှာ" ဟုမိန့်ဆိုတော်မူသည့် အတိုင်း 'ဗဒ်ရ်' စစ်မြေပြင်တွင် ကာဖိရ်စစ်သည်များအနက်မှ စစ်သည် ၇၀– တိတိ ကျဆုံးခဲ့ကြရလေသည်။

(၂) " ထိုကာဖိရ်တို့အား ဂုဏ်ရည် သေးသိမ်စေတော်မူရန် အလို့ငှာ" ဟု မိန့်ဆိုထားတော်မူသည့် ➤➤

لَيْسَ لَكَ مِنَ الْأَمْرِ شَيْءٌ
أَوْ يَتُوبَ عَلَيْهِمْ أَوْ يُعَذِّبَهُمْ
فَإِنَّهُمْ ظٰلِمُونَ ﴿١٢٨﴾

၁၂၈။ (အို- နဗီတမန်တော်) ဤကိစ္စနှင့်စပ်လျဉ်း၍ အသင်တစ်စုံတရာ ဝင်ရောက် စွက်ဖက်ပိုင်ခွင့်မရှိချေ။ ထိုအရှင်မြတ်သည် ထိုသူတို့ဘက်သို့ ကရုဏာတော်ဖြင့် ပြန်လှည့်တော် မူသည်ဖြစ်စေ၊ သို့တည်းမဟုတ် ထိုသူတို့အား အပြစ်ဒဏ် ပေးတော်မူသည်ဖြစ်စေ၊ အဘယ်ကြောင့်ဟူမူ ထိုသူများသည် မုချကေန် မတော်မတရားကျူးလွန်သော သူများဖြစ်ကြပေသည်၊[၁]

وَلِلّٰهِ مَا فِي السَّمٰوٰتِ وَمَا فِي
الْأَرْضِ ۚ يَغْفِرُ لِمَنْ يَشَاءُ وَ
يُعَذِّبُ مَنْ يَشَاءُ ۚ وَاللّٰهُ
غَفُورٌ رَحِيمٌ ﴿١٢٩﴾

၁၂၉။ ထို့ပြင်တဝ အာကာသကောင်းကင်များ၌ ရှိရှိသမျှသော (သက်ရှိသက်မဲ့) အရာများသည်၎င်း၊ ပထဝီမြေ၌ ရှိရှိသမျှသော (သက်ရှိသက်မဲ့) အရာများသည်၎င်း၊ အလ္လာဟ်အရှင်မြတ် ပိုင်ဆိုင်တော်မူသော အရာများချည်းသာတည်း။

ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသော သူကို အပြစ်မှချမ်းသာပေးသနားတော်မူသည်။ ၎င်းပြင် ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသော သူကို အပြစ်ပေးတော် မူလေသည်။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အပြစ်များမှ အလွန် ချမ်းသာခွင့် ပေးသနားတော်မူထသော အရှင်၊ အစဉ်သနား ကြင်နာ ညှာတာတော် မူထသောအရှင် ဖြစ်တော်မူပေသတည်း။

---

➢➢ အတိုင်း 'ဗဒ်ရ်' စစ်ပွဲတွင် ကာဖိရ်တို့သည် စစ်ရေးရှုံးနိမ့်၍ စစ်မြေပြင်မှ မရှုမလှ ထွက်ပြေးကြရသည်သာမက မွတ်စ်လင်မ်တို့လက်တွင်း၌ ကာဖိရ်စစ်သည် ၇၀-သည်လည်း စစ်သုံ့ပန်းအဖြစ် အဖမ်းခံခဲ့ကြရပေသည်။

(၁) **ထုတ်ပြန်ပို့ချတော်မူသည့် အကြောင်း။**

'အုဟုဒ်' စစ်မြေပြင်တွင် မွတ်စ်လင်မ် စစ်သည်တော်များ အများအပြား ကျဆုံးရသည်သာမက နဗီတမန်တော် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစ္စလ္လမ်)၏ မျက်နှာနှင့် သွားများ၌ပင်လျှင် ဒဏ်ရာရရှိခဲ့လေသည်။ ထိုအချိန်တွင် တမန်တော်မြတ်က" မိမိတို့၏နဗီ၏မျက်နှာကို သွေးဖြင့် အရောင်ဆိုးသောသူများသည် အသို့လျှင် အောင်နိုင်ကြအံ့နည်း" ဟုပြောကြားတော်မူခဲ့၏။ ထိုအခါတွင် အလ္လာဟ်အရှင်မြတ်သည် ဤအာယသ်တော်ကို ထုတ်ပြန်ပို့ချတော်မူခဲ့လေသည်။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُواْ لَا تَأۡكُلُواْ ٱلرِّبَوٰٓاْ أَضۡعَٰفٗا مُّضَٰعَفَةٗۖ وَٱتَّقُواْ ٱللَّهَ لَعَلَّكُمۡ تُفۡلِحُونَ ١٣٠

၁၃၀။ အို-" မုအ်မင်န်" ယုံကြည်ခြင်း သဒ္ဓါတရားထားရှိသူ အပေါင်းတို့။ အသင်တို့သည် ဆထက်တိုးပြီးဖြစ်သော၊ *ဆပေါင်းများစွာသော* [၁] *အတိုးအညွှန့်ကို* [၂] မစားကြကုန်လင့်။ ၎င်းပြင် အသင်တို့သည် အလ္လာဟ် အရှင်မြတ်ကို ကြောက်ရွံ့ကြလေကုန်၊ သို့မှသာလျှင် အသင်တို့သည် အောင်မြင်ကြကုန်အံ့။

وَٱتَّقُواْ ٱلنَّارَ ٱلَّتِيٓ أُعِدَّتۡ لِلۡكَٰفِرِينَ ١٣١

၁၃၁။ ထိုမှတပါးတုံ အသင်တို့သည် "ကာဖိရ်" မယုံကြည် သွေဖယ်ငြင်းပယ်ကြကုန်သော သူတို့ အတို့ အသင့်ပြင်ဆင် ထားရှိပြီးဖြစ်သော (ငရဲ)မီး ဘေးမှ (လည်း) ကြဉ်ရှောင်ကြလေကုန်။

---

(၁) အတိုးအညွှန့်သည် နည်းသည်ဖြစ်စေ၊ များသည်ဖြစ်စေ၊ 'ဟရာမ်' ပင်ဖြစ်သည်။ အလျှင်း မစားသုံးအပ်ပေ။

ဤအာယသ်တော်တွင် "ဆထက်တိုးထားသော၊ ဆပေါင်းများစွာသော" ဟူသောစကားသည် အတိုးအညွှန့်မစားသုံးရန်အတွက် သတ်မှတ်ထားသောခြင်းချက်မဟုတ်ပေ။ အတိတ်ခေတ်တွင်ယင်းကဲ့သို ဆပေါင်းများစွာ တိုးတက်၍ အတိုးအညွှန့် စားသုံးခဲ့သည့် ထုံးတမ်းစဉ်လာကို ရည်ညွှန်းမိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

အတိတ်ခေတ်၌ အကြွေးအရောင်းအဝယ် ပြုသည့်အခါ ကြွေးဆပ်ရန် သတ်မှတ်ထားသော နေ့ရက်တွင် အကြွေးကို ပြေလည်အောင်ပေးဆပ်ပါမည်ဟု မြီစားယူသူက ကတိပြုရသည်။ အကြွေးဆပ်ရန် သတ်မှတ်ထားသော အချိန်ရောက်၍ အကြွေးကိုမဆပ်နိုင်သော် ကြွေးရှင်သည် မူလကြွေးရင်းကို ပိုမိုတိုးထားပြီးလျှင် အကြွေးဆပ်ရန် မြီစားအား အချိန်ပိုပေးလေ့ရှိသည်။ (ထာနဝီ)။

အတိုးအညွှန့်သည် ဓနရှင်အား ဓနရှင်ကြီးဖြစ်စေ၏။ ဆင်းရဲသားအား ဆင်းရဲဒုက္ခ၏ အဆိုးရွားဆုံးဘဝသို့ရောက်စေ၏။ အတိုးအညွှန့်သည် အလွန်တရားဆိုးရွားလှသော ရောဂါကြီးနှင့်တူ၏။ ထို့အတွက်ကြောင့်ပင်လျှင် အလ္လာဟ်အရှင်မြတ်သည် အတိုးအညွှန့်စားသုံးခြင်းကို လုံးဝမြစ်တားထားတော်မူလေသည်။ များစွာသော 'မုဖတ်စိရီန်' အဋ္ဌကထာရှင်များက ပြေဆိုကြသည်မှာ ဤကြောက်မက်ဘွယ် သတိပေးနှိုးဆော်ချက်သည် အတိုးအညွှန့်စားသုံးခြင်းကို 'ဟလာလ်' စားသုံးပိုင်သည်ဟူ၍ ယုံကြည်ယူဆသော သူအတွက် ဖြစ်သည်။ အတိုးအညွှန့်စားသုံးခြင်းကို 'ဟလာလ်' စားသုံးပိုင်သည်ဟူ၍ ယူဆသောသူသည် 'ကာဖိရ်' ဖြစ်သည်။ ကုရ်တုဗီ။

(၂) အတိုးအညွှန့်မစားသုံးအပ်သည့် အကြောင်း ကုရ်အာန်ကျမ်းမြတ် (၂း၂၇၅၊ ၂၇၈၊ ၂၇၉။ ၃း ၁၂၉။ ၄း ၁၆၁။ ၃၀း ၃၉။) တွင် တွေ့ရှိရပေသည်။

وَأَطِيعُوا اللَّهَ وَالرَّسُولَ لَعَلَّكُمْ تُرْحَمُونَ ﴿١٣٢﴾

၁၃၂။ ထို့ပြင်တဝ အသင်တို့သည် အလ္လာဟ် အရှင်မြတ်၏ အမိန့်တော် များကိုင်၊ ရစူလ် တမန်တော်၏ ဩဝါဒများကိုင်၊ လိုက်နာကြလေ ကုန်။ သို့မှသာလျှင် အသင်တို့သည် သနားကြင်နာ ညှာတာတော်မူခြင်းကို ခံကြရလတ္တံ့။

وَسَارِعُوا إِلَىٰ مَغْفِرَةٍ مِّن رَّبِّكُمْ وَجَنَّةٍ عَرْضُهَا السَّمَاوَاتُ وَالْأَرْضُ أُعِدَّتْ لِلْمُتَّقِينَ ﴿١٣٣﴾

၁၃၃။ ထို့ပြင်တဝ အသင်တို့သည် မိမိ တို့၏ အရှင်မြတ်၏ အထံတော်မှဖြစ်သော အပြစ်မှ ချမ်းသာ ပေးသနားတော်မူရာသို့ငှင်း၊ "ဂျန္နတ်" အမတ သုခဘုံသို့ငှင်း၊ သူ့ထက်ငါသာအောင် လျင်မြန်စွာ ပြေးလာကြကုန်လော့။ ထို *"ဂျန္နတ်" အမတသုခဘုံ ၏ အကျယ်အဝန်းကား* [၁] မိုးကောင်းကင်များနှင့် ပထဝီမြေပြင် (တမျှ) ဖြစ်၏။ ထို "ဂျန္နတ်" အမတသုခဘုံသည် ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင် ကြကုန်သော "မွတ္တကီ" သူတော်စင်များအဘို့ အသင့် ပြင်ဆင်ထားပြီး ဖြစ်လေသတည်း။

الَّذِينَ يُنفِقُونَ فِي السَّرَّاءِ وَالضَّرَّاءِ وَالْكَاظِمِينَ الْغَيْظَ

၁၃၄။ ထိုသူတော်စင်များသည် စီးပွားတိုးတက် ချောင်လည်စွာရှိသော အချိန်အခါများ၌ငှင်း၊ ဆင်းရဲ ဒုက္ခရောက်ရှိသောအခါများ၌ငှင်း ( အချိန်အခါ မရွေး) *ပေးကမ်းစွန့်ကြဲ လှူဒါန်းကြကုန်၏။* [၂]

---

(၁) လူသားတို့အမြင်တွင် မိုးနှင့်မြေထက် ကျယ်ဝန်းသော အရာဝတ္ထု မရှိချေ။ မိုးနှင်မြေသည် အကျယ်ဝန်းဆုံးသော အရာများဖြစ်ချေသည်။ ထို့အတွက်ကြောင့်ပင် 'ဂျန္နတ်' ၏အကျယ်အဝန်းကို လူသားတို့ခန့်မှန်းနိုင်ရန် အလို့ငှါ 'ဂျန္နတ်' သည် မိုးများနှင့် ပထဝီမြေကြီးတမျှဖြစ်သည်" ဟူ၍ ဤအာယသ်တော်တွင် နှိုင်းယှဉ်ပြီး မိန့်ဆို ထားတော်မူခြင်းဖြစ်သည်။ 'ဂျန္နတ်' ၏ အကျယ်အဝန်းမှာ ဤမျှဤမျှဖြစ်သည်ဟူ၍ အတိအကျ တိုင်းထွာပြထား သည်မဟုတ်။ ဂျန္နတ်သည် မိုးမြေတို့ထက်ဆပေါင်းများစွာ ကျယ်ဝန်းကြောင်း တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ ဩဝါဒများတွင် အများအပြား တွေ့ ရှိရပေသည်။

(၂) **မွတ္တကီများ၏ ဂုဏ်ပုဒ်များ။**

(က)။ အများအားဖြင့်လူသားတို့သည် ဥစ္စာဓနအလွန်တရာ ပေါများကြွယ်ဝနေကြသည့်အခါ စိုးရိမ်ကြောင့်ကြ မှုမကင်း၍ လောကီစည်းစိမ်တွင် နစ်မွန်းကာ အလ္လာဟ်အရှင်မြတ်ကိုပင် မေ့လျော့နေတတ်ကြ၏။ ➤➤

وَالْعَافِيْنَ عَنِ النَّاسِ ۗ وَاللّٰهُ يُحِبُّ الْمُحْسِنِيْنَ ﴿١٣٤﴾

(ထိုသူတော်စင်များသည်) အမျက်ဒေါသကို *ချုပ်တည်းမျိုသိပ်သော သူများလည်း* [1] ဖြစ်ကြကုန်၏။ လူသားတို့အား *ခွင့်လွှတ်သူများလည်း* [2] ဖြစ်ကြကုန်၏။ စင်စစ် အလ္လာဟ် အရှင်မြတ်သည် (ယင်းသို့) *ကောင်းမှုပြုလုပ်သော သူများအား* [3] နှစ်သက်တော်မူချေသတည်း။

---

➤➤ ထိုအချိန်မျိုးတွင် အလှူဒါနမပြုနိုင်ကြချေ။ ထို့အတူ အလွန်ဆင်းရဲပြီး စားဝတ်နေရေးတို့တွင် ကသီလင်တ ဖြစ်နေသည့် အခါတွင်လည်း အလှူဒါန မပြုနိုင်ကြချေ။ သို့ရာတွင် 'မွတ္တကီ' သူတော်စင်များသည် ချမ်းသာကြွယ်ဝသည့်အခါ၌၎င်း၊ ဆင်းရဲဒုက္ခနှင့် တွေ့ကြုံနေကြရသည့်အခါတွင်၎င်း။ အချိန်အခါမရွေး မိမိတို့၏ ဥစ္စာပစ္စည်းများကို လောကီ၊ လောကုတ္တရာရေးများ၌ တရားသဖြင့် ပေးကမ်းလှူဒါန်းကြကုန်၏ မတရားဖြုန်တီးခြင်းနှင့် တွန့်တိုခြင်းသည် သူတော်စင်တို့၏ လက္ခဏာမဟုတ်။ သူယုတ်မာတို့၏ လက္ခဏာတည်း။

① (ခ) 'မွတ္တကီ' သူတော်စင်များ၏ ဂုဏ်ထူးဝိသေသများအနက် ဝိသေသတရပ်မှာ ထိုသူတော်စင်များသည် အမျက်ဒေါသကို ချုပ်တည်းနိုင်ခြင်းပင်ဖြစ်ပေသည်။ 'သတိတမံ ဉာဏ်မြေကတုတ် ပညာစွန်း ချွန်းကဲ့သို့အုပ်' ဆိုသကဲ့သို့ ဆင်ကြီးနှင့်တူသော ဒေါသကို ပညာဉာဏ်တည်းဟူသော ချွန်းဖြင့် အုပ်ထိန်းနိုင်ရပေသည်။ ဆင်ကိုချွန်းဖြင့် မအုပ်ထိန်းပါကလူကို ဘေးရန်ဖြစ်စေသကဲ့သို့ ဒေါသအမျက်ကို ဉာဏ်ပညာဖြင့် မချုပ်တည်းပါက အလွန်အကျွံ ဖြစ်စေတတ်သည်။

အမျက်ဒေါသကို ချုပ်တည်းနိုင်သောသူများနှင့် စပ်လျဉ်း၍ နဗီတမန်တော် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)က ဤသို့ မိန့်ကြားတော်မူခဲ့လေသည်။

> အကြင်သူသည် အမျက်ဒေါသအလျောက် ပြုမူစွမ်းနိုင်ပါလျက် အမျက်ဒေါသကို ချုပ်တည်းအံ့။ အလ္လာဟ်အရှင်မြတ်သည် ထိုသူ၏စိတ်နှလုံးကို အေးချမ်းမှုဖြင့်၎င်း။ 'အီမါန်' ယုံကြည်ခြင်းသဒ္ဒါတရားဖြင့်၎င်း ဖြည့်စွမ်းပေးတော်မူအံ့၊

② (ဂ) 'မွတ္တကီ' သူတော်စင်များ၏ ဂုဏ်ထူးဝိသေသများအနက် ဝိသေသတရပ်မှာ ထိုသူတော်စင်များသည် သူတပါး၏ အပြစ်ကြီးငယ်များကို တုံ့ပြန်ချေပနိုင်ပါလျက် ခွင့်လွှတ်ခြင်းပင်ဖြစ်၏။ ဤဂုဏ်ထူးသည် အမျက်ဒေါသကို ချုပ်တည်းနိုင်မှုထက် မြင့်မြတ်ပေသည်။

③ (ဃ) 'မွတ္တကီ' သူတော်စင်များ၏ ဂုဏ်ထူးဝိသေသများအနက် ဝိသေသတရပ်မှာ ထိုသူတော်စင်များသည် အပြစ်ရှိသူတို့အား ခွင့်လွှတ်ကြသည်သာမက ယင်းသူတို့အား အကောင်းဖြင့် တုံ့ပြန်ကြကုန်၏။ ဤဂုဏ်ထူးသည် အမျက်ဒေါသကို ချုပ်တည်းနိုင်မှုနှင့်အပြစ်များကို ခွင့်လွှတ်မှုထက်ပင် ပိုမိုမြင့်မြတ်ပေသည်။

**အတုယူဘွယ် သာဓက။**

တနေ့သ၌ နဗီတမန်တော်၏မြေးတော်ဟို့စိုင်န်သခင်၏သား၊ မြစ်တော်အလီသခင်အား ကျွန်မကလေး တစ်ယောက်သည် 'ဝူဒူ' ပြုရာ၌ရေလောင်းပေးနေစဉ် ရေခွက်သည် ကျွန်မကလေး၏လက်မှလွတ်၍ အလီသခင်၏အပေါ်သို့ ကျသွားလေရာ အလီသခင်သည် ဒေါသဖြစ်မိလေသည်။ ထိုအချိန်တွင် ကျွန်မကလေးသည် သူတော်စင်များသည် "ဒေါသအမျက်ကိုချုပ်တည်းနိုင်သောသူများဖြစ်ကြကုန်၏" ဟု အနက်ပေးသော ➤➤

وَالَّذِيْنَ إِذَا فَعَلُوْا فَاحِشَةً أَوْ ظَلَمُوْٓا أَنْفُسَهُمْ ذَكَرُوا اللّٰهَ فَاسْتَغْفَرُوْا لِذُنُوْبِهِمْ ۖ وَمَنْ يَّغْفِرُ الذُّنُوْبَ إِلَّا اللّٰهُ ۖ وَلَمْ يُصِرُّوْا عَلٰى مَا فَعَلُوْا وَهُمْ يَعْلَمُوْنَ ۝١٣٥

၁၃၅။ ထို့ပြင်တဝ ယင်း သူတော်စင် များသည် ညစ်ညမ်းသော ကိစ္စတရပ်ရပ်ကို ပြုလုပ်မိကြသည် ဖြစ်စေ၊ မိမိတို့ကိုယ်ကို နှိပ်စက်ညှင်းပန်းမိကြ သည်ဖြစ်စေ (ပြုမိလျှင်ပြုမိခြင်း) အလ္လာဟ် အရှင် မြတ်အား အောက်မေ့ တသ သတိရကြကုန်၏။ ထို့နောက် မိမိတို့အပြစ်များမှ ချမ်းသာရန်အလို့ငှါ (အလ္လာဟ်အရှင်မြတ် အထံတော်၌) အသနားခံ တောင်းပန်ကြကုန်၏။

စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ် မှတပါး အပြစ်များမှ ချမ်းသာခွင့် ပေးနိုင်သောသူ သည် အဘယ်သူနည်း။ တဖန် ယင်းသူတို့သည် မိမိတို့ ပြုလုပ်မိကြသော (ပြစ်မှု ဒုစရိုက်များကို) ဖွတ်တိုး၍ မိမိတို့ကိုယ်တိုင် သိနားလည်ကြပါလျက် နှင့် လက်မလျှော့ဘဲ ပြုမြဲပြုနေခဲ့ကြ သည်လည်း မဟုတ်ချေ။ [၁]

---

>> ( الْكٰظِمِيْنَ الْغَيْظَ ) ဟူသော အာယသ်တော်ကို ရွတ်ဘတ်လေရာ အလီသခင်၏ဒေါသသည် ပြေပျောက်သွားလေ၏။

ထို့နောက် ကျွန်မကလေးက "သူတော်စင်များသည် လူတို့၏အပြစ်များကို ခွင့်လွှတ်သောသူများ ဖြစ်ကြကုန်၏" ဟု အနက်ပေးသော ( الْعَافِيْنَ عَنِ النَّاسِ ) ဟူသော အာယသ်တော်ကို ရွတ်ဘတ်ပြန်လေရာ အလီသခင်က "ငါသည် အသင်မအား ခွင့်လွှတ်လိုက်လေပြီ" ဟု မိန့်ကြားတော်မူလေသည်။ ထို့နောက်တဖန် ကျွန်မကလေးက "အလ္လာဟ်အရှင်မြတ်သည် အကောင်းပြုသူတို့အား နှစ်သက်တော်မူ၏" ဟု အနက်ပေးသော ( وَاللّٰهُ يُحِبُّ الْمُحْسِنِيْنَ ) ဟူသော အာယသ်တော်ကို ရွတ်ဘတ်ပြန်လေရာ အလီသခင်က "ငါသည် အသင်မကို ကြေးကျွန်အဖြစ်မှ လွတ်မြောက်စေပြီ အသင်မသွားလိုရာသွားပေတော့" ဟုပြောကြားလိုက်လေသတည်း။ ဤကား အတုယူဘွယ် ကောင်းလှတော့၏။ ကြည့်- မာရိဒီ။

(၁) (c) 'မွတ္တကီ' သူတော်စင်များသည် မည့်သည့် ညစ်ညမ်းဆိုးသွမ်းမှုကိုမျှ သိပါလျက်နှင့် မပြုကြချေ။ မိမိတို့ကိုယ်ကိုလည်း မိမိတို့မနှိပ်စက်ကြချေ။ မိမိတို့တာဝန်ဝတ္တရားများကိုလည်း မပျက်ကွက်ကြချေ။ သူတော်စင်များသည် တခါတရံ အမှတ်မဲ့မေ့မှား၍ ပြစ်မှုတစ်ရပ်ကို ကျူးလွန်မိကြသော် ထိုသူတော်စင်များသည် အလ္လာဟ်အရှင်မြတ်အား သတိရ၍ ထိုအရှင်မြတ်အထံတော်၌ ဝန်ချတောင်းပန်အသနားခံကြကုန်သည်။

ပြုမိသော ပြစ်မှုများကိုလည်း ဆက်လက်ဖွတ်တိုးပြီးလျှင် ဘယ်သောအခါမှ မပြုလုပ်ကြချေ။ ဝေးစွာကြည်ရှောင်ကြပေသည်။ ဤသည်လည်းသူတော်စင်များ၏ လက္ခဏာတရပ်ပေတည်း ။

اُولٰٓئِكَ جَزَآؤُهُمۡ مَّغۡفِرَةٌ مِّنۡ رَّبِّهِمۡ وَجَنّٰتٌ تَجۡرِىۡ مِنۡ تَحۡتِهَا الۡاَنۡهٰرُ خٰلِدِيۡنَ فِيۡهَا ؕ وَنِعۡمَ اَجۡرُ الۡعٰمِلِيۡنَ ؕ﴿۱۳۶﴾

**၁၃၆။** ထိုသူတော်စင်တို့၏ အကျိုးကား ယင်းသူတို့အား မွေးမြူတော်မူသောအရှင်မြတ် အထံတော်မှ အပြစ်ချမ်းသာပေးသနားတော်မူခြင်းနှင့် ဥယျာဉ်များဖြစ်၏။ ထိုဥယျာဉ်များ၏အောက်တွင် စမ်းရေချောင်းများစီးဆင်းလျက်ရှိ၏။ (ထိုသူတော်စင်များသည်)ထိုဥယျာဉ်များ၌ ထာဝစဉ် စံမြန်းနေထိုင်လျက်ရှိကြကုန်အံ့။ စင်စစ် ကောင်းမှုပြုလုပ်သောသူတို့၏ ကုသိုလ်အကျိုးသည် အလွန်ကောင်းမြတ်လှပေသတည်း။

قَدۡ خَلَتۡ مِنۡ قَبۡلِكُمۡ سُنَنٌ ۙ فَسِيۡرُوۡا فِى الۡاَرۡضِ فَانۡظُرُوۡا كَيۡفَ كَانَ عَاقِبَةُ الۡمُكَذِّبِيۡنَ ﴿۱۳۷﴾

**၁၃၇။** ဧကန်ဆတ်ဆတ် အသင်တို့အလျင် အမျိုးမျိုးသော (အယူဝါဒ) *ထုံးတမ်းဓလေ့များ* [၁] (ကိုလိုက်စားသူများ) လွန်လေခဲ့ကြချေပြီ။ သို့ဖြစ်ရာ အသင်တို့သည် ကမ္ဘာမြေပြင်ဝယ် သွားလာလှည့်ပတ်၍ (အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်ကို) မဟုတ်မမှန် မုသားဟု ပြောဆိုငြင်းပယ်ကြသောသူတို့၏ *နောက်ဆုံးအဖြစ်အပျက်သည် မည်သို့ဖြစ်ခဲ့သည်ကို၊ ကြည့်ရှုဆင်ခြင်ကြလေကုန်။* [၂]

---

(၁) 'စွန်နတွန်' ဟူသောစကား၏ အနက်အဓိပ္ပါယ်မှာ လမ်းစဉ်ဟုရသည်။ ထိုလမ်းစဉ်ကို လိုက်နာကျင့်သုံးသောသူကိုလည်း 'စွန်နတ်' ဟူ၍ အခေါ်အဝေါ်ရှိသည်။ ဤအာယသ်တော်တွင် 'လမ်းစဉ်များ' ဟူသည် ထိုလမ်းစဉ်များကို လိုက်နာကျင့်သုံးသောသူများကို ဆိုလိုသည်။ ကြည့် - ရှုဟုလ်မအာနီ။ ကုရ်တုဗီ။

အတိတ်ခေတ်များတွင် လမ်းစဉ်အမျိုးမျိုးကို လိုက်နာကျင့်သုံးခဲ့သူများ ရှိခဲ့ကြ၏။ 'ကာဖိရ်' များလည်း ရှိခဲ့ကြ၏။ 'မုအ်မင်န်' များလည်းရှိခဲ့ကြ၏။ ထိုသူတို့သည် အချင်းချင်းကွဲပြားခဲ့ကြ၏။ ပြိုင်ဆိုင်ခဲ့ကြ၏။ လက်နက်ဆွဲကိုင်၍ တိုက်ခိုက်ခဲ့ကြ၏။ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုးသော 'မုအ်မင်န်' များသည် အရေးသာကြပြီး ကာဖိရ်တို့မှာကား အရေးရှုံးနိမ့် ပျက်စီးခဲ့ကြရလေသည်။

ယခုထက်တိုင် အတိတ်ခေတ်က ပျက်စီးခဲ့ကြသော ကာဖိရ်တို့၏ တိုက်တာအိမ်ယာ အဆောက်အဦ၊ အသုံးအဆောင် စသည့် အမှတ်အသားများ၊ ရှေးဟောင်းပစ္စည်းများကို တွေ့ရှိရပေသည်။

(၂) အတိတ်ခေတ်များတွင် တရားဒေသနာတော်များကို သွေဖည်ငြင်းပယ်ကြကုန်သော ကာဖိရ်တို့သည် နောက်ဆုံးတွင် မည်သို့မည်ပုံဆုံးရှုံးပျက်စီးခဲ့ရသည်ကို ကြည့်ရှုဆင်ခြင်ပြီး သတိသံဝေဂ တရားရနိုင်ရန်အလို့ငှါ ယခုထိတိုင် ကြွင်းကျန်လျက်ရှိသော ယင်းကာဖိရ်တို့နှင့် ပတ်သက်သည့် အဆောက်အဦ၊တိုက်တာ၊အိမ်ယာ၊ အမှတ်အသားများကိုကမ္ဘာလှည့်၍ လေ့လာကြည့်ရှုရန် အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်များအား ▶▶

هٰذَا بَيَانٌ لِّلنَّاسِ وَهُدًى وَّمَوْعِظَةٌ لِّلْمُتَّقِيْنَ ﴿١٣٨﴾

**၁၃၈။** ဤသည်ကား [၁] လူခပ်သိမ်းတို့ (သိနားလည်နိုင်ရန်) အလို့ငှာ ရှင်းလင်းဖော်ပြချက်လည်းဖြစ်၏။ ပြစ်မှုဒုစရိုက်များမှ ကြဉ်ရှောင်ကြကုန်သော "မွတ္တကီ" သူတော်စင်များအတို့ တရားဓမ္မ ညွှန်ကြားချက်များလည်းဖြစ်၏။ ဆုံးမဩဝါဒလည်းဖြစ်၏။

وَلَا تَهِنُوْا وَلَا تَحْزَنُوْا وَاَنْتُمُ الْاَعْلَوْنَ اِنْ كُنْتُمْ مُّؤْمِنِيْنَ ﴿١٣٩﴾

**၁၃၉။** ထိုပြင့်တဝအသင်တို့သည် အားလည်းမလျှော့ကြကုန်လင့်၊ ပူပင်သောကလည်းမဖြစ်ကြကုန်လင့်။ စင်စစ်သော်ကား အကယ်၍သာ အသင်တို့သည် "မုအ်မင်န်" ယုံကြည်ခြင်းသဒ္ဓါတရားထားရှိသူများဖြစ်ကြပါမူ (နောက်ဆုံးတွင်) *အသင်တို့သည်သာလျှင် အနိုင်ရရှိသူများ ဖြစ်ကြလတ္တံ့*။ [၂]

اِنْ يَّمْسَسْكُمْ قَرْحٌ فَقَدْ مَسَّ الْقَوْمَ قَرْحٌ مِّثْلُهٗ ۗ وَتِلْكَ الْاَيَّامُ نُدَاوِلُهَا بَيْنَ النَّاسِ ۚ وَلِيَعْلَمَ اللّٰهُ

**၁၄၀။** အကယ်၍ အသင်တို့၌ (အုဟုဒ် စစ်ပြေပြင်တွင်) တစုံတရာ ဒဏ်ရာဒဏ်ချက် ထိရောက်ခဲ့ပါလျှင် ယင်းကဲ့သို့ ဒဏ်ရာဒဏ်ချက်သည်ပင် (ဗဒ်ရ် စစ်မြေပြင်တွင်) ထိုရန်သူများ၌လည်း ထိရောက်ခဲ့ပြီး ဖြစ်ပေသည်။ (နိုင်တခါ ရှုံးတလှည့်ဖြစ်သော) ဤခေတ်သမယများကို *ငါအရှင်မြတ်သည် လူသားတို့စပ်ကြားတွင်လှည့်ပတ်ရောက်စေတော်မူသည်*။ [၃]

---

➤➤ မိန့်ကြားထားတော်မူသည်။ အတိတ်ခေတ်ရာဇဝင်များနှင့် ကမ္ဗည်းကျောက်စာများကို 'အီမါန်' ယုံကြည်ခြင်းသဒ္ဓါတရားဖြင့် တိကျမှန်ကန်စွာ လေ့လာလိုက်စားပါက သတိသံဝေဂ နောင်တတရား ရမည်မှာ မုချပင်ဖြစ်၏။

(၁) "ဟာဿာ" 'ဤ' ဟူသော နိဒဿန နာမ်စားသည် ဤအာယသ်တော်တွင်ဖော်ပြ ပါရှိသော အမိန့်မြစ်တားချက် ကတိပေးချက်နှင့်၊သတိပေးနိုးဆော်ချက်များကို ရည်ညွှန်းသည်ဟု အချို့ ပညာရှင်များ ကဆိုကြသည်။ ကြည့်-ကဗီရ်။ အချို့ပညာရှင်များကမူ 'ဤ' ဟူသောနိဒဿနနာမ်စားသည် ကုရ်အာန်ကျမ်းမြတ်ကို ရည်ညွှန်းသည်ဟူ၍ ဆိုကြသည်။ ကြည့်-ဗရုလ်မုဟီတ္တ်။မာဂျိဒီ။

(၂) မုစ်လင်တို့သည် အလ္လာဟ်အရှင်မြတ်အား စိတ်စေတနာဖြူစင်စွာဖြင့် ယုံကြည်မြတ်နိုးကြပြီး ထိုအရှင်မြတ်၏ အဆုံးအမ ဩဝါဒတော်များကို ကိုယ်စိတ်နှလုံးသုံးပါးဖြင့် တသဝေမတိမ်း လိုက်နာကျင့်ကြံပါလျှင် အရေးကိစ္စဟူသမျှတွင် အောင်နိုင်ကြမည်မှာ မုချပင်ဖြစ်ပေသည်။

(၃) အလ္လာဟ် အရှင်မြတ်သည် လူသားတို့တွင် အရှုံးအနိုင် ခေတ်များကို အကြောင်းအားလျော်စွာ ➤➤

الَّذِيْنَ اٰمَنُوْا وَيَتَّخِذَ مِنْكُمْ شُهَدَآءَ ۗ وَاللّٰهُ لَا يُحِبُّ الظّٰلِمِيْنَ ﴿١٤٠﴾

(ယင်းသို့ ပြုလုပ်တော်မူခြင်းမှာ) အလ္လာဟ် အရှင်မြတ်သည် အီမါန် ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိကြသော 'မုအ်မင်န်' တို့ကို သိရှိတော်မူရန် အလို့ငှာငှင်း၊ အသင်တို့အနက်မှ အချို့တို့ကို (အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌) အသက် စွန့်သွားသော အာဇာနည်များအဖြစ် ပြုလုပ်တော် မူရန် အလို့ငှာငှင်း ဖြစ်ချေသည်။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် မတရား ကျူးကျော် စော်ကားသောသူများကို နှစ်သက်တော်မူသည် မဟုတ်ချေ။

وَلِيُمَحِّصَ اللّٰهُ الَّذِيْنَ اٰمَنُوْا وَيَمْحَقَ الْكٰفِرِيْنَ ﴿١٤١﴾

**၁၄၁။** ၎င်းပြင် (ယင်းကဲ့သို့ ပြုလုပ်တော်မူခြင်းမှာ) အလ္လာဟ် အရှင်မြတ်သည် 'မုအ်မင်န်' အီမါန် ယုံကြည်ခြင်း သဒ္ဓါတရားထားရှိသော သူတို့အား (ပြစ်မှုအပေါင်းတို့မှ) သန့်ရှင်း စင်ကြယ်စေတော် မူရန် အလို့ငှာငှင်း၊ ကာဖိရ် မယုံမကြည် သွေဖယ်ငြင်းပယ်သောသူများကို သုတ်သင်ရှင်းလင်းတော်မူရန်အလို့ငှာငှင်း၊ ဖြစ်ချေသတည်း။

اَمْ حَسِبْتُمْ اَنْ تَدْخُلُوا الْجَنَّةَ وَلَمَّا يَعْلَمِ اللّٰهُ الَّذِيْنَ

**၁၄၂။** (အို-မွတ်စ်လင်မ်အပေါင်းတို့) အသင်တို့သည် 'ဂျန္နတ်' အမတ သုခဘုံသို့ (လွယ်လင့်တကူ လျှင်မြန်ထုတ်ချောက်) ဝင်ရောက်နိုင်ကြလိမ့်မည်ဟု ထင်မှတ် ကြလေသလော။

➤➤ ပြောင်းလွှဲပေးတော်မူ၏။ ယင်းကဲ့သို့ ခေတ်များကို ပြောင်းလွှဲတော်မူခြင်း၏ အကျိုးကား များပြားလှပေ၏။ မွတ်စ်လင်မ်တို့သည် "ဗဒ်ရ်" စစ်ပွဲတွင် စစ်ရေးသာခဲ့ပြီး အုဟုဒ်စစ်ပွဲတွင် အကြီးအကျယ်ဒဏ်ရာ ဒဏ်ချက်များ ရခဲ့ကြသည်မှာလည်း သာဓကတစ်ရပ်ပင်ဖြစ်၏။ ယင်းကဲ့သို့ခေတ်များကို နိုင်တခါ ရှုံးတလှည့် ပြောင်းလွှဲပေးခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့၏ အီမါန် ယုံကြည်ခြင်းသဒ္ဓါတရားကိုလည်း အထင်အရှား သိလိုတော်မူ၏။ အချို့မွတ်စ်လင်မ်များကိုလည်း 'ရှဟီဒ်' သာသနာ့အာဇာနည်များအဖြစ် ချီးမြှင့်တော်မူလို၏။ မွတ်စ်လင်မ်များကိုလည်း အပြစ်ကြီးငယ် အပေါင်းတို့မှ သန့်ရှင်းစေလိုတော်မူ၏။ ကာဖိရ်များကိုလည်း သုတ်သင်ရှင်းလင်းတော်မူလို၏။ (ထာနဝီ)၊

جٰهَدُوْا مِنْكُمْ وَيَعْلَمَ الصّٰبِرِيْنَ ﴿١٤٢﴾

အမှန်သော်ကား အလ္လာဟ် အရှင်မြတ်သည် (ယခုတိုင်)အသင်တို့အနက် စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်သော သူတို့ကိုလည်း တွေ့ရှိတော်မမူသေးပေ။ ထိုနည်းတူစွာ ခန္တီတရား ထားရှိသူတို့ကိုလည်း တွေ့ရှိတော်မမူသေးချေ။

وَلَقَدْ كُنْتُمْ تَمَنَّوْنَ الْمَوْتَ مِنْ قَبْلِ اَنْ تَلْقَوْهُ ۠ فَقَدْ رَاَيْتُمُوْهُ وَاَنْتُمْ تَنْظُرُوْنَ ﴿١٤٣﴾

၁၄၃။ ၎င်းပြင် အသင်တို့သည် မရဏ သေခြင်းတရားကို ထိုမရဏ သေခြင်းတရားနှင့် မတွေ့ကြုံမီအလျင်က မချွတ်မလွဲ တောင်းတလျက်ရှိခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ (ယခုမူကား) အသင်တို့သည် ထိုမရဏ သေခြင်းတရားကို (မိမိတို့ တောင်းတသည့်အားလျော်စွာ) မလွဲဧကန် မျက်မြင်ဒိဋ္ဌ တွေ့မြင်ခဲ့ကြချေပြီတကား။ ၁

وَمَا مُحَمَّدٌ اِلَّا رَسُوْلٌ ۚ قَدْ خَلَتْ مِنْ قَبْلِهِ الرُّسُلُ ؕ

၁၄၄။ အမှန်သော်ကား (တမန်တော်) မုဟမ္မဒ် *(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)*သည် ၂ ရစူလ် တမန်တော်တပါးမျှသာ ဖြစ်သည်။

---

(၁) **ဖေါ်ပြချက်။**

'ဗဒ်ရ်' စစ်မြေပြင်တွင် 'မွတ်စ်လင်မ်' စစ်သည်တော်များသည် ကာဖိရ်စစ်သည်များအား အပြတ်အသတ်အောင်နိုင်လိုက်ကြသည့်အခါ ထိုစစ်ပွဲတွင် မပါဝင်လိုက်ရသော အချို့ မွတ်စ်လင်မ်များက နောက်နောင်စစ်ပွဲဖြစ်ပွားခဲ့လျှင် ငါတို့သည် နဗီတမန်တော်နှင့် အတူတကွ စစ်ပွဲဆင်နွှဲ၍ ဗဒ်ရ်စစ်ပွဲတွင် ကျဆုံးသွားသော "ရှုဟဒါ" "မွတ်စ်လင်မ် သာသနာ့အာဇာနည်တို့၏ ဂုဏ်ထူးကို ဆွတ်ခူးကြမည်ဟု တောင့်တခဲ့ကြလေသည်။ များမကြာမီအတွင်း အုဟုဒ်စစ်ပွဲဖြစ်ပွားခဲ့၏။ ထိုစစ်ပွဲတွင် တမန်တော်မြတ်သည် မဒီနာမြို့တွင်းမှပင် ခုခံတိုက်ခိုက်လိုသော်လည်း ထိုသူတို့၏ ပန်ကြားချက်ဖြင့် မြို့ပြင်သို့ထွက်၍ အုဟုဒ်တောင်ခြေတွင် စစ်ပွဲဆင်နွှဲတော်မူ၏။ ထိုစစ်ပွဲတွင် မိမိတို့၏နောင်တော် ညီတော်များနှင့် ဆွေမျိုးသားချင်းတို့ သေဆုံးသည်ကို မျက်မြင်ဒိဋ္ဌ တွေ့မြင်ရသောအခါ ယခင်က သေခြင်းတရားကိုပင် တောင်းတခဲ့သော သူများသည် ထိတ်လန့်ကြောက်ရွံ့ သွားကြလေသည်။ ဤ အာယသ်တော်တွင် ထိုသူတို့အား ရည်ညွှန်း၍ မိန့်ဆို ထားတော်မူသည်။

(၂) က။ တမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ရစူလ်တမန်တော်တပါးသာ ဖြစ်ချေသည်။ တမန်တော်မြတ်၏အလျင်ပွင့်တော်မူခဲ့ပြီးသော များစွာသော တမန်တော်များသည်လည်း အသီးသီး ကွယ်လွန်အနိစ္စရောက်ခဲ့ကြပြီ ဖြစ်ပေရာ တမန်တော်မြတ်သည်လည်း ကွယ်လွန်အနိစ္စရောက်ရမည်မှာ မုချပင်ဖြစ်၏။ ➤➤

اَفَاۡٮِٕنْ مَّاتَ اَوْ قُتِلَ انْقَلَبْتُمْ عَلٰۤى اَعْقَابِكُمْ ؕ وَمَنْ يَّنْقَلِبْ عَلٰى عَقِبَيْهِ فَلَنْ يَّضُرَّ اللّٰهَ شَيْـًٔا ؕ وَسَيَجْزِى اللّٰهُ الشّٰكِرِيْنَ ﴿۱۴۴﴾

ထို (ရစူလ်တမန်တော်) မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အလျင် (အခြား) ရစူလ်တမန်တော်များ(လည်း) မလွဲဧကန် လွန်လေခဲ့ကြချေပြီ။ သို့ဖြစ်ပေရာ အကယ်၍သာ ထို (ရစူလ်တမန်တော်) မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) သည်(လည်း) ကွယ်လွန်သေဆုံးခဲ့လျှင်သော်လည်းကောင်း၊ ခ သို့တည်းမဟုတ် သတ်ဖြတ်ခြင်းခံခဲ့ရလျှင်သော် လည်းကောင်း၊ အသင်တို့သည် (စစ်မြေပြင်မှ ဖြစ်စေ၊ အစ္စလာမ် သာသနာတော်မှ ဖြစ်စေ) မိမိတို့ ခြေဖနှောင့်ဘက်သို့ ပြန်လှည့်၍ ဆုတ်ခွာသွားကြမည်လော။

➤➤ အလ္လာဟ်အရှင်မြတ်သည်သာလျှင် အိုခြင်း၊ နာခြင်း၊ သေခြင်း၊ တရားတို့မှ ကင်းစင်တော်မူသော အရှင်ဖြစ်တော်မူသည်။ တမန်တော်မြတ်သည် လူသားတစ်ဦးပင် ဖြစ်ရကား အိုခြင်း၊ နာခြင်း၊ သေခြင်းတို့မှ အသို့လျှင် ကင်းနိုင်တော်မူပါအံ့နည်း။ တမန်တော်များအား စေလွှတ်တော်မူခြင်း၏ အဓိက ရည်ရွယ်ချက်မှာ တရား ဓမ္မဟောကြားရန်ပင်ဖြစ်သည်။ တမန်တော်များသည် လောကတွင် ထာဝစဉ် တည်ရှိနေကြရန်မဟုတ်ပေ။ အလ္လာဟ်အရှင်မြတ်မှတပါး အခြားမည်သူတစ်ဦးတစ်ယောက်မျှ ထာဝစဉ် တည်ရှိနေနိုင်သည်လည်း မဟုတ်ပေ။

ခ။ 'မုဟမ္မဒ်' ဟူသော အမည်နာမသည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်များတွင် နောက်ဆုံးပွင့်တော်မူသော တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အမည်နာမဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ်တွင် "မုဟမ္မဒ်" ဟူသော အမည်နာမကို ၄ – နေရာ၌ တွေ့ရှိရပေသည်။ ကြည့် – ကုရ်အာန် (၃း ၁၄၄။ ၃၃း ၄၀။ ၄၇း ၂။ ၄၈း ၂၉။)

တမန်တော်မြတ် မပွင့်မီအလျှင် အာရေဗျနိုင်ငံတွင် 'မုဟမ္မဒ်' ဟူသောအမည်သည် အလွန်တရာမျှ ရှားပါးလှ၏။ တမန်တော်မြတ်အလျှင် 'မုဟမ္မဒ်' ဟူသောအမည်ဖြင့် ၇–ဦးမျှသာ ရှိခဲ့၏။ ကြည့် – အလ်မွအ်တဗရ်၊ စာမျက်နှာ ၁၇၁။ လိစာနွလ်အရဗ်။ တာဂျလ်အရူစ်။

'မုဟမ္မဒ်' ဟူသော အမည်နာမတော်ကို ပညာရှင် သုခမိန်တို့သည် အမျိုးမျိုး ဝိဂြိုလ် ဝစနတ္ထ ပြုကြ၏။ ဤတွင် အနည်းငယ်ဖော်ပြပါအံ့။

'မုဟမ္မဒ်' ဟူသည် ချီးမွမ်းဘွယ်ရာ စာရိတ္တ အဖြာဖြာ နှင့် ပြည့်စုံသော ပုဂ္ဂိုလ်ဟူ၏။ (ရာဃိဗ်)

'ပညတ်သွားရာ ခါတ်သက်ပါ' "ဂုဏ်နှင့် ဒြဗ် ထက်ချက်ပါ" ဆိုဘိသကဲ့သို့ တမန်တော်မြတ်သည် 'မုဟမ္မဒ်' ဟူသောနာမတော်နှင့်အညီ မပွင့်မီအလျှင် အတိတ်ခေတ်မှာလည်း ချီးမွမ်းထောမနာခြင်း ခံခဲ့ရ၏။ ပွင့်ပြီးသည့်နောက် ယနေ့ထက်တိုင်လည်း သတ္တဝါအပေါင်းတို့သည် တမန်တော်မြတ်အား ချီးမွမ်းထောပနာပြုလျက်ရှိကြကုန်၏။ နောင်အနာဂတ် တစ်လျှောက်လုံးတွင်လည်း သတ္တဝါအပေါင်းတို့သည် တမန်တော်မြတ်အား ချီးမွမ်းထောမနာပြုလျက်ပင် ရှိကြမည်မှာ မုချပင်ဖြစ်တော့၏။ ➤➤

➤➤ တမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အတ္ထုပ္ပတ္တိကား ကျယ်ဝန်းလှ၏။ အကျယ်သိလိုပါက စီရတ် ဣဗ်နိဟိရှာမ်၊ စီရတွန္နဗီ၊ အဆွဟ်ဟွတ်စ်စီယရ်၊ ကိဆွဆွူလ် ကုရ်အာန် အစရှိသည့် ကျမ်းကြီးများတွင် ရှုပါကုန်။

(၁) 'အုဟုဒ်' စစ်မြေပြင်တွင် တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကိုယ်တိုင် ဒဏ်ရာဒဏ်ချက်ရရှိသောအခါ ရှိုင်တွာန်က 'တမန်တော်မြတ်ကျဆုံးသွားလေပြီ' ဟုမဟုတ်မမှန် သတင်းလွှင့်လိုက်ပေရာ စိတ်ဓါတ်နုနယ်သောအချို့သာဝကများသည် စိတ်ဓါတ်ကျဆုံးပြီး စစ်မြေပြင်မှပင် ဆုတ်ခွာသွားကြလေသည်။ ထိုအချိန်မှာပင် 'မုနာဖိက်' တို့သည်အခွင့်ကောင်းယူကာ မွတ်စ်လင်မ်တို့အား ကဲ့ရဲ့ပြစ်တင်၍ အစ္စလာမ် သာသနာကိုပင် စွန့်လွှတ်ကြရန် လှုံ့ဆော် တိုက်တွန်းကြလေသည်။ ဤအာယသ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် အထက်ပါအဖြစ်အပျက်ကိုပင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။ ကြည့် – မာရိဒီ။

**ထုတ်ပြန်ပို့ချတော်မူသည့်အကြောင်း။**

'အုဟုဒ်' စစ်မြေပြင်တွင် ကာဖိရ် စစ်သည်တစ်ဦးဖြစ်သူ "အဗ်ဒုလ္လာဟ် အီဗ်နုကမိအဟ် အလ်ဟာရိဆီ" က တမန်တော်မြတ်အား ကျောက်ခဲနှင့် ပစ်ပေါက်လိုက်ရာ တမန်တော်မြတ်၏ ရှေ့သွားတစ်ချောင်းပဲ့စင်၍ မျက်နှာတော်၌ ဒဏ်ရာရသွားလေသည်။ ထိုအချိန်တွင် ၎င်းကာဖိရ်က တမန်တော်မြတ်အား သတ်ဖြတ်ရန် ရှေ့သို့တိုးလာရာ မွတ်စ်လင်မ်တို့၏ အလံတော်ကိုင် သာဝကကြီး "မွတ်ဆွ်အဗ်နုအုမိုင်ရ်" သည် တမန်တော်မြတ်ဘက်မှ ခုခံကာကွယ်၍ ထိုကာဖိရ်အား တိုက်ခိုက်လေရာ နောက်ဆုံးတွင် ထိုသာဝကကြီးသည် ကျဆုံးသွားရရှာလေသည်။ ထိုသာဝကကြီး ကျဆုံးသွားရရှာသည်ကိုပင် ထိုကာဖိရ်က တမန်တော်မြတ် ကျဆုံးသည်ဟု ထင်မှတ်၍ 'တမန်တော်ကျဆုံးပြီ' ဟု ပြောဆိုလေ၏။

ထိုအချိန်တွင် ကြွေးကြော်သူတစ်ဦးက ထိုအကြောင်းကိုပင် ဟစ်အော် ကြွေးကြော်လေ၏။ ထိုကြွေးကြော်သံသည် မွတ်စ်လင်မ်စစ်သည်တော်များတွင် ပျံ့နှံ့သွားလေရာ အချို့မွတ်စ်လင်မ်များသည် စိတ်ဓါတ်ကျဆုံး၍ စစ်မြေပြင်မှပင် ဆုတ်ခွါထွက်ပြေး သွားကြလေသည်။ ထိုအခါ တမန်တော်မြတ်က "အို–အလ္လာဟ်အရှင်မြတ်၏ ကျွန်အပေါင်းတို့၊ ငါ့ထံ ပြန်လှည့်လာကြလော့" ဟု ဟစ်ခေါ်တော်မူလေရာ အချို့ သာဝကများသည် တမန်တော်မြတ်၏ထံပါးသို့ ပြန်လည်စုရုံး လာကြလေသည်။ ထိုအချိန်တွင် တမန်တော်မြတ်က ထိုသူတို့အား ပြစ်တင်စကား ပြောကြားတော်မူရာ သာဝကများက "အကျွန်ုပ်တို့သည် မိမိတို့၏ မိဘများကိုပင် သခင့်အတွက် စွန့်လျှကြပါပြီ၊ တမန်တော်မြတ်ကျဆုံးသည်ဟူသော သတင်းစကားကို ကြားလိုက်ရသဖြင့် စိတ်ဓါတ်များ တုန်လှုပ်ချောက်ချားပြီး စစ်မြေပြင်မှ ထွက်ပြေးကြခြင်းဖြစ်ပါသည်" ဟု လျှောက်ထားကြလေသည်။ ထိုအချိန်တွင် ဤအာယသ်တော် ကျရောက်လာလေသည်။

အုဟုဒ်စစ်ပွဲတွင် ဖြစ်ပွားခဲ့သော အဖြစ်အပျက်နှင့် ပတ်သက်၍ အချို့ကျမ်းကြီးများတွင် ဤသို့လည်း တွေ့ရှိရ၏။ တမန်တော်မြတ်ကျဆုံးပြီဟူသော သတင်းထွက်ပေါ်လာသည့်အခါ စိတ်ဓာတ်နုနယ်သော အချို့ မွတ်စ်လင်မ်များက အဗ်ဒုလ္လာဟ်အီဗ်နုအုဗိုင်ယ်သည် (ရန်သူတို့၏စစ်ဗိုလ်ကြီး) အဗူစွတ်ဖ်ယာန်ထံမှ ငါတို့အတွက် လွတ်ငြိမ်းချမ်းသာခွင့် တောင်းပေးပါလျှင် ကောင်းစွ ဟု ပြောဆိုကြ၏။ အချို့မုနာဖစ်က်များကလည်း "အကယ်၍ မုဟမ္မဒ်သည် နဗီတမန်တော် အဟုတ်တကယ်ဖြစ်ပါလျှင် ကျဆုံးမည်မဟုတ်။ အသင်တို့သည် မိမိတို့၏ ညီနောင်များနှင့် ပြန်လည်ပူးပေါင်းကြ။ (အစ္စလာမ်ကိုစွန့်လွှတ်၍) မိမိတို့၏ မူလယုံကြည်ရင်း ဘာသာဘက်သို့ ပြန်လှည့်ကြ" ဟု ပြောဆိုကြ၏။

ထိုအချိန်တွင် သာဝကကြီးအနတ်စ်အီဗ်နုနသွဗ်ရ်က "အို–ကျွန်ုပ်၏အမျိုးသားများ၊အကယ်၍ ➤➤

အမှန် စင်စစ်သော်ကား မည်သူမဆို မိမိ ခြေမနှောင့်ဘက်သို့ ပြန်လှည့်၍ ဆုတ်ခွာသွားပါမူ ထိုသူသည် အလ္လာဟ်အရှင်မြတ်အား အနည်းငယ်မျှ အလျင်း *ဆုံးရှုံးနစ်နာစေနိုင်မည်မဟုတ်ချေ။* [၁] ထို့ပြင် တ၀ အလ္လာဟ်အရှင်မြတ်သည် "ကတညူ" ကျေးဇူး တော်များကို သိတတ်သောသူတို့အား မကြာမီ အကျိုးကျေးဇူး ပေးသနားတော်မူအံ့။

وَمَا كَانَ لِنَفْسٍ أَنْ تَمُوتَ إِلَّا بِإِذْنِ اللَّهِ كِتَابًا مُؤَجَّلًا ۗ وَمَنْ يُرِدْ ثَوَابَ الدُّنْيَا نُؤْتِهِ

**၁၄၅။** ထိုမှတပါး မည်သူ တစ်ဦးတစ်ယောက်၌မျှ *အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်မရှိဘဲလျက် သေဆုံးနိုင်ခွင့်မရှိချေ။* [၂] (လူတိုင်းအတို့ သေဆုံးရန် အတွက်) သတ်မှတ်ထားသော အချိန်တစ်ချိန်သည် ရေးသားပြီးဖြစ်၏။

---

➤➤ တမန်တော်မုဟမ္မဒ်သည် ကျဆုံးသွားခဲ့သည်ရှိသော် တမန်တော်မုဟမ္မဒ်အား မွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်သည်ကား ထာ၀ရ ရှင်နေတော်မူသော အရှင်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် ကွယ်လွန်တော်မူသည် မဟုတ်ချေ။ တမန်တော်မြတ် မရှိသည့်နောက်တွင် အသက်ရှင်၍နေခြင်းသည် အသို့ အကျိုးရှိအံ့နည်း။ အသင်တို့သည် တမန်တော်မြတ် တိုက်ခိုက်တော်မူသော လမ်းစဉ်အတိုင်း တိုက်ခိုက်ကြလော့။ တမန်တော်မြတ်ကွယ်လွန်တော်မူသည့် လမ်းစဉ်အတိုင်း ကွယ်လွန်ကြလော့" ဟု ပြောဆိုလေ၏။ ထို့နောက် ထိုသာ၀ကကြီးက "အို – အလ္လာဟ်အရှင်မြတ်၊ ကျွန်တော်မျိုးသည် ဤသူများ ပြောဆိုကြသည့် စကားများနှင့် မပတ်သက်ကြောင်း အရှင့်အထံတော်၌ အစီရင်ခံပါ၏။ ကျွန်တော်မျိုးသည် ဤသူတို့ပြုလုပ်သော အပြုအမူများနှင့်လည်း လွတ်ကင်းပါ၏" ဟု လျှောက်ထားလေသည်။ ထို့နောက် မိမိ၏ ဓါးလွယ်ကို ဆွဲကိုင်၍ ရန်သူတို့အား တိုက်ခိုက်ရင်းပင် နောက်ဆုံးတွင် ကျဆုံးသွားရာလေသည်။

(၁) မည်သူမဆို အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ 'ဂျိဟာဒ်' ပြိုင်ဆိုင်တိုက်ခိုက်ခြင်းမှ ဆုတ်ခွာတိမ်းရှောင်အံ့။ သို့တည်းမဟုတ် အစ္စလာမ်သာသနာကိုဖေါက်ပြန်သွားအံ့။ ထိုသူသည် အလ္လာဟ်အရှင်မြတ်အား စိုးစဉ်းမျှ နစ်နာဆုံးရှုံးစေနိုင်သည်မဟုတ်။မိမိကိုယ်ကို မိမိကိုယ်တိုင်သာလျှင် နစ်နာဆုံးရှုံးစေသည်မည်၏။

(၂) သက်ရှိသတ္တ၀ါအပေါင်းတို့သည် သေကြရမည်သာဖြစ်၏။ ကြည့် – ကုရ်အာန် (၃း ၁၈၄။ ၂၁း ၃၅။ ၂၉း ၅၇) မည်သူ တစ်ဦးတစ်ယောက်မျှ သေဘေးမှ တိမ်းရှောင်ပုန်းအောင်း၍ လွတ်ကင်းနိုင်မည်လည်း မဟုတ်ပေ။ ကြည့် – ကုရ်အာန် (၄း ၇၈။ ၃၃း ၁၆။ ၆၂း ၈)။

သက်ရှိသတ္တ၀ါအပေါင်းတို့သည် အလ္လာဟ်အရှင်မြတ် သတ်မှတ်ထားတော်မူသော အချိန်၌ပင် သေကြရပေသည်။ သတ္တ၀ါများသည် သတ်မှတ်ထားသောအချိန်မကျမီ တစ်နာရီမျှ စော၍လည်း မသေနိုင်ကြ။ သတ်မှတ်ထားသောအချိန် တစ်နာရီမျှ ဆိုင်းငံ့၍လည်း မသေနိုင်ကြပေ။ ကြည့်–ကုရ်အာန်(၁၀း၄၉။ ၁၆း၆၁)။

مِنۡهَا‌ۚ وَمَنۡ يُّرِدۡ ثَوَابَ الۡاٰخِرَةِ نُؤۡتِهٖ مِنۡهَا‌ ؕ وَسَنَجۡزِى الشّٰكِرِيۡنَ ﴿۱۴۵﴾

တဖန်မည်သူမဆို လောကီအကျိုးကို အလိုရှိခဲ့ပါမူ၊ ငါအရှင်မြတ်သည် (အလိုတော်ရှိပါလျှင်) ထိုသူအား လောကီအကျိုးကို ပေးသနားတော်မူအံ့။ ထိုနည်းတူစွာ မည်သူမဆို နောင်တမလွန်ဘဝ၏ အကျိုးကျေးဇူးကို အလိုရှိခဲ့ပါလျှင်၊ ငါအရှင်မြတ် သည် ထိုသူအား နောင်တမလွန် ဘဝ၏ အကျိုးကို ပေးသနားတော်မူအံ့။ ၎င်းပြင် ငါအရှင်မြတ်သည် "ကတညူ" ကျေးဇူးသိတတ်သော သူတို့အား မကြာမီ အကျိုးပေးဆပ်တော်မူအံ့။

وَكَاَيِّنۡ مِّنۡ نَّبِىٍّ قٰتَلَ ۙ مَعَهٗ رِبِّيُّوۡنَ كَثِيۡرٌ ۚ فَمَا وَهَنُوۡا لِمَاۤ اَصَابَهُمۡ فِىۡ سَبِيۡلِ اللّٰهِ وَمَا ضَعُفُوۡا وَمَا اسۡتَكَانُوۡا ‌ؕ وَاللّٰهُ يُحِبُّ الصّٰبِرِيۡنَ ﴿۱۴۶﴾

၁၄၆။ ၎င်းပြင် မြောက်မြားစွာသော နဗီတမန်တော်များနှင့် အတူတကွ အလ္လာဟ် အရှင်မြတ်အား ကြည်ညိုမြတ်နိုး ကြကုန်သော သူတော်ကောင်းများသည် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခဲ့ကြလေသည်။

သို့ပါလျက် ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်၏လမ်းတော်တွင် မိမိတို့၌ဆိုက်ရောက်ခဲ့သော ဘေးအန္တရာယ်ဆင်းရဲဒုက္ခများကြောင့် စိတ်အားလျော့ခြင်းသည်၎င်း၊ အင်အားလျော့နည်းခြင်း သည်၎င်း၊ ကြို့ငဲ့ နိမ့်ကျခြင်းသည်၎င်း၊ မရှိခဲ့ကြချေ။

အမှန်သော်ကား အလ္လာဟ် အရှင်မြတ်သည် (ဖွဲ့သတ္တိနှင့်ပြည့်စုံ၍) ခန္တီတရားထားရှိသူတို့ကို ချစ်ကြည်မြတ်နိုးတော်မူပေသည်။

وَمَا كَانَ قَوۡلَهُمۡ اِلَّاۤ اَنۡ قَالُوۡا رَبَّنَا اغۡفِرۡ لَنَا

၁၄၇။ ၎င်းပြင် ထိုသူတို့သည် (ယင်းကဲ့သို့ ဘေးအတန်တန်၊ ရန်အဖုံဖုံ၊ ဆင်းရဲဒုက္ခ အမျိုးမျိုး ရောက်နေကြသောအခါ တစ်စုံတစ်ရာ ငြီးငြူခြင်း မပြုဘဲ) ဤသို့သာလျှင် လျှောက်ထားကြကုန်သည်။

ذُنُوبَنَا وَإِسْرَافَنَا فِيٓ أَمْرِنَا وَثَبِّتْ أَقْدَامَنَا وَانصُرْنَا عَلَى الْقَوْمِ الْكَٰفِرِينَ ﴿١٤٧﴾

"အို- ကျွန်တော်မျိုးတို့အား မွေးမြူတော်မူသော အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့၏ အပြစ်များကိုငှင်း၊ ကျွန်တော်မျိုးတို့၏ အရေးကိစ္စတွင် ကျွန်တော်မျိုးတို့၏ အလွန်အကျွံ ပြုမှုခဲ့ခြင်း များကိုငှင်း၊ ချမ်းသာခွင့် ပေးသနားတော်မူပါ ထိုမှတပါး အရှင်မြတ်သည် ကျွန်တော်မျိုးတို့၏ခြေများကို (ဥဇုမဂ္ဂ ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်အပေါ်၌) တည်တံ့ခိုင်မြဲစေတော်မူပါ။ ၎င်းပြင် ကျွန်တော်မျိုးတို့အား "ကာဖိရ်" ယုံကြည်ခြင်း သဒ္ဓါတရားကင်းမဲ့သော သူတို့အပေါ်၌ အောင်မြင်ခြင်းကို ပေးသနားတော်မူပါ။"

فَـَٔاتَىٰهُمُ اللَّهُ ثَوَابَ الدُّنْيَا وَحُسْنَ ثَوَابِ الْأٓخِرَةِ ۗ وَاللَّهُ يُحِبُّ الْمُحْسِنِينَ ﴿١٤٨﴾

၁၄၈။ သို့ဖြစ်ပေရာ၊ အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့အား လောကီအကျိုး(ဖြစ်သော အောင်မြင်မှု) ကိုငှင်း၊ နောင်တမလွန်ဘဝ၏ (နိစ္စသုခတည်းဟူသော) ကောင်းမြတ်သော အကျိုးကျေးဇူးကိုငှင်း ချီးမြှင့် ပေးသနားတော်မူခဲ့လေသည်။

အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ကောင်းမြတ်သော အကျင့်အမူ ကျင့်မူသော သူတို့အား ချစ်ကြည်တော်မူလေသတည်း။

يَٰٓأَيُّهَا الَّذِينَ ءَامَنُوٓا إِن تُطِيعُوا الَّذِينَ كَفَرُوا يَرُدُّوكُمْ عَلَىٰٓ أَعْقَٰبِكُمْ فَتَنقَلِبُوا خَٰسِرِينَ ﴿١٤٩﴾

၁၄၉။ အို-ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိသူ အပေါင်းတို့။ အသင်တို့သည် အကယ်၍သာ ကာဖိရ် ငြင်းပယ်သော သူတို့ (ပြောဆို ကြသည့်အတိုင်း) လိုက်နာကြပါမူ၊ ယင်းသူတို့သည် အသင်တို့အား (အစ္စလာမ် သာသနာတော်မှ "ကုဖ်ရ်" မိစ္ဆာဒိဋ္ဌိ အယူဝါဒများဘက်သို့) ပြန်လည်၍ လှည့်စေကြကုန်အံ့။ သို့ပြန်လှည့်သွားကြလျှင် အသင်တို့သည် နစ်နာဆုံးရှုံးသူများအဖြစ်သို့ ရောက်ရှိသွားကြကုန်လတ္တံ့။

بَلِ اللّٰهُ مَوْلٰىكُمْ ۚ وَهُوَ خَيْرُ النّٰصِرِيْنَ ﴿١٥٠﴾

၁၅၀။ စင်စစ်အားဖြင့် (ယုံကြည်ခြင်း သဒ္ဒါတရား ကင်းမဲ့သောသူတို့သည် အသင်တို့အား စောင့်ရှောက်မည့်သူများ) အလျင်း မဟုတ်(ကြချေ။) အလ္လာဟ် အရှင်မြတ်သည်သာလျှင် အသင်တို့အား အထူး *စောင့်ရှောက်တော်မူသောအရှင်* [၁] ဖြစ်တော်မူသည်။ ၎င်းပြင် ထိုအရှင်မြတ်သည် စောင်မသူများတွင် အကောင်းဆုံး စောင်မတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

سَنُلْقِيْ فِيْ قُلُوْبِ الَّذِيْنَ كَفَرُوا الرُّعْبَ بِمَآ اَشْرَكُوْا بِاللّٰهِ مَا لَمْ يُنَزِّلْ بِهٖ سُلْطٰنًا ۚ وَمَاْوٰىهُمُ النَّارُ ؕ وَبِئْسَ مَثْوَى الظّٰلِمِيْنَ ﴿١٥١﴾

၁၅၁။ မကြာမြင့်မီ ငါအရှင်မြတ်သည် "ကာဖိရ်" မယုံမကြည် သွေဖည် ငြင်းပယ်သော သူတို့၏ စိတ်နှလုံးအတွင်းသို့ *အလွန်တရာကြောက်လန့်သော စိတ်ကို ထည့်သွင်းတော်မူအံ့။* [၂] အကြောင်းသော်ကား ယင်းသူတို့သည် အကြင်အရာများကို အလ္လာဟ် အရှင်မြတ်နှင့် တွဲဘက်ယှဉ်ပြိုင် ကိုးကွယ်ခဲ့ကြ၏။ ထိုအရာများကို (တွဲဘက်ယှဉ်ပြိုင် ကိုးကွယ်ရန် အကြောင်း)နှင့် စပ်လျဉ်း၍ ထိုအရှင်မြတ်သည် မည်သည့် သက်သေ သာဓက တစ်စုံတရာကိုမျှ ထုတ်ပြန်ချမှတ်တော်မူခဲ့သည် မဟုတ်ချေ။

---

(၁) ထိုကာဖိရ်များသည် မွတ်စ်လင်မ်တို့၏ မိတ်ဆွေများ မဟုတ်ကြပေ။ ရန်သူများသာလျှင် ဖြစ်ကြ၏။ ကာဖိရ်များသည် မွတ်စ်လင်မ်တို့အား အမျိုးမျိုးအနှောင့်အယှက်ပေးလျက်ရှိကြ၏။ မွတ်စ်လင်မ်တို့အား 'မုရ်တဒ္ဒ' အစ္စလာမ်သာသနာကို ဖောက်ပြန်သွားသောသူများ ဖြစ်အောင်ပင် ကြိုးပမ်းလျက်ရှိကြ၏။ အလ္လာဟ်အရှင်မြတ်မှာကား မွတ်စ်လင်မ်တို့၏ မိတ်ဆွေလည်း ဖြစ်တော်မူ၏။ အကောင်းဆုံး အကူအညီပေးတော်မူသောအရှင်လည်း ဖြစ်တော်မူ၏။ သို့ဖြစ်ပေရာ မွတ်စ်လင်မ်တို့သည် အလ္လာဟ်အရှင်မြတ်အားသာလျှင် မှီခိုအားထားကြရပေမည်။ ထိုအရှင်မြတ်၏ အမိန့်တော်များကိုသာလျှင် မြေဝယ်မကျ နာခံကြရပေမည်။ ကာဖိရ်တို့မှုကား အလျင်း အားမထားကြရပေ။ ထိုသူတို့၏ စကားများကိုလည်း အလျင်းမနာခံကြရပေ။

(၂) **ဖော်ပြချက်။**

အထက်ပါ အာယသ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့အား အကောင်းဆုံး ကူညီစောင်မတော်မူသော အရှင်ဖြစ်တော်မူကြောင်းပါရှိ၏။ ယခုဤအာယသ်တော်တွင် အလ္လာဟ်အရှင်မြတ် ကူညီတော်မူသည့်အကြောင်းကို မိန့်ဆိုထားတော်မူသည်။ 

ငှင်းပြင် ယင်းသူတို့၏ နေထိုင်ရာဌာနသည် ငရဲမီးဘုံပင်ဖြစ်၏။ စင်စစ် မတော်မတရား ပြုမူသူတို့၏ နေထိုင်ရာဌာနသည် အလွန်တရာ ဆိုးရွားလှ၏တကား။

وَلَقَدْ صَدَقَكُمُ اللّٰهُ وَعْدَهٗٓ اِذْ تَحُسُّوْنَهُمْ بِاِذْنِهٖ ۚ حَتّٰٓى اِذَا فَشِلْتُمْ وَتَنَازَعْتُمْ

**၁၅၂**။ မုချဧကန် အလ္လာဟ်မြတ်သည် အသင်တို့အတို့ *မိမိ ထားရှိတော်မူခဲ့သော ကတိတော်ကို အတည်ဖြစ်စေတော်မူခဲ့ချေပြီ။* [1] အကြင်အခါဝယ် အသင်တို့သည် ထိုအရှင်မြတ်၏ အမိန့်တော်ဖြင့် ထိုကာဖိရ်တို့အား သတ်ဖြတ်ချေမှုန်းနေကြကုန်၏။

---

➤➤ အုဟုဒ်စစ်ပွဲတွင် ပဌမပိုင်း၌ မွတ်စ်လင်မ် စစ်သည်တော်များ အရေးသာခဲ့ကြသော်လည်း စစ်ပွဲပြီးဆုံးသည်အခါ မျက်မြင်အားဖြင့် ကာဖိရ်တို့သည် အရေးသာခဲ့ကြသည်။ အခြေအနေအရ ကာဖိရ်တို့သည် အုဟုဒ် စစ်မြေပြင်နှင့် အလွန်နီးကပ်လျက်ရှိသော မဒီနာမြို့တွင်းသို့ ချင်းနင်းဝင်ရောက်ပြီး မွတ်စ်လင်မ်အားလုံးတို့အား ချေမှုန်းကြရန်သာ ဖြစ်ပေသည်။

သို့သော် ဤအာယသ်တော်တွင် ပါရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်တို့၏ စိတ်နှလုံးများတွင် တုန်လှုပ်ချောက်ချားမှုကို ထည့်သွင်းပေးတော်မူလိုက်သဖြင့် ထိုကာဖိရ်စစ်သည်များသည် စစ်မြေပြင်မှပင် ပြန်လည်ဆုတ်ခွာ သွားကြရလေသည်။ ခရီးအတော်အတန်ရောက်ကြသည့်အခါ မွတ်စ်လင်မ်တို့အား ပြန်လည် တိုက်ခိုက်ချေမှုန်းရန် ကာဖိရ်တို့၌ အကြံအစည်ပေါ်လာလေသည်။

ထိုအကြောင်း တမန်တော်မြတ် ဝဟီဖြင့်သိတော်မူရာ ကာဖိရ်စစ်သည်တော်များ ပြန်လည် စစ်ဦးမလှည့်နိုင်ရန် တမန်တော်မြတ်သည် မွတ်စ်လင်မ် စစ်သည်တော်များနှင့်တကွ မဒီနာမြို့မှ (၈) မိုင်ကွာဝေးသော "ဟမ်ရာအိုလ်အစဒ်" အမည်ရှိသော ဌာနအထိ နောက်မှ လိုက်သွားတော်မူ၏။ ထိုဌာန၌ မွတ်စ်လင်မ်စစ်သည်တော်များသည် သုံးရက်တိုင်တိုင်စားခန်းချ၍ နေခဲ့ကြ၏။ ကာဖိရ် စစ်သည်တစ်ဦးကိုပင် လက်ရဖမ်းဆီးထားနိုင်ခဲ့ကြသေး၏။ (ထာနဝီ)

(၁) အကယ်၍ မွတ်စ်လင်မ်တို့သည် ခန္တီတရားလက်ကိုင်ထား၍ တည်တံ့ခိုင်မြဲစွာ ရပ်တည်နေနိုင်ကြပါလျှင် အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့အား အကူအညီပေးတော်မူမည့်အကြောင်းကို တမန်တော်မြတ်သည် မဆွကပင် ကြိုတင်၍ မိန့်ကြားတော်မူခဲ့၏။ တမန်တော်မြတ် မိန့်ကြားခဲ့သည့်အတိုင်းပင် အလ္လာဟ်အရှင်မြတ်ကလည်း အုဟုဒ်စစ်ပွဲ၏ ပဌမပိုင်းတွင် မွတ်စ်လင်မ်တို့အား ကူညီတော်မူခဲ့၏။ မွတ်စ်လင်မ် စစ်သည်တော်များသည်လည်း ထိုအရှင်မြတ်၏ အမိန့်တော်ဖြင့် ကာဖိရ်တို့အား သတ်ဖြတ်ချေမှုန်းနိုင်ခဲ့ကြပေသည်။

ကုရ်အာန်ကျမ်းမြတ် ဤအာယသ်တော် (၃း ၁၅၁) တွင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အတို့ မိမိ ထားရှိတော် မူခဲ့သော ကတိတော်ကို အတည် ဖြစ်စေတော်မူပြီ ဟူသော အာယသ်တော်သည် အထက်ပါ အကြောင်းကိုပင် ရည်ညွှန်းသည်။

فِي الْأَمْرِ وَعَصَيْتُم مِّنۢ بَعْدِ مَآ أَرَىٰكُم مَّا تُحِبُّونَ ۚ مِنكُم مَّن يُرِيدُ الدُّنْيَا وَمِنكُم مَّن يُرِيدُ الْآخِرَةَ ۚ ثُمَّ صَرَفَكُمْ

နောက်ဆုံးတွင် အသင်တို့အား ထိုအရှင်မြတ်က အသင်တို့နှစ်သက်ကြကုန်သော(ဝါ) အောင်မြင်မှုကို (မျက်မြင်ကိုယ်တွေ့) ပြသတော်မူပြီးသည့်နောက် အသင်တို့သည် သူရသတ္တိ ညှံ့ဖျင်းသွားခဲ့ကြကုန်၏။ [၁] ၎င်းပြင် အသင်တို့သည် (နဗီတမန်တော်မြတ်၏) အမိန့်တော်နှင့်စပ်လျဉ်း၍ *အချင်းချင်း အငြင်းပွားခဲ့ကြ၏။* [၂] (နဗီတမန်တော်မြတ်၏) *အမိန့်တော်ကိုလည်း သွေဖည်ခဲ့ကြ၏။* [၃]

(၁) အုဟုဒ်စစ်မြေပြင်တွင် နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အုဟုဒ်တောင်ကို နောက်ခံထား၍ စစ်သည်တော်များကို စံနစ်တကျ နေရာချပေးတော်မူခဲ့၏။ တောင်၏နောက်မှ ရန်သူများ လာရောက်မတိုက်နိုင်ရန် အလို့ငှါ လေးသည်တော် ၅၀-အား တောင်ထိပ်ပေါ်တွင် နေရာချထားပေးတော်မူပြီး "ငါတို့သည် နိုင်သည်ဖြစ်စေ၊ ရှုံးသည်ဖြစ်စေ မည်သို့ပင်ဖြစ်စေကာမူ အသင်တို့သည် မိမိတို့နေရာမှ အလျင်းမရွှေ့ကြကုန်လင့်" ဟု တမန်တော်မြတ်သည် ထိုလေးသည်တော်များအား လေးနက်စွာ မှာကြားထားတော်မူခဲ့၏။

ထို့နောက် စတင်စစ်ဖြစ်ပွားခဲ့သည်အခါ မွတ်စ်လင်မ် စစ်သည်တော်များသည် ဇွဲသတ္တိရှိရှိဖြင့် ပိပိရိရိ အကွက်စိစိ စည်းကမ်းသေသပ်စွာ တိုက်ခိုက်ကြရာ ကာဖိရ်စစ်သည်များသည် ကစဥ့်ကလျားဖြစ်ပြီး နောက်ဆုံးတွင် စစ်မြေပြင်မှ ဆုတ်ခွာကြရလေသည်။ မွတ်စ်လင်မ် စစ်သည်တော်များသည် ရန်သူတို့၏ ပစ္စည်းများကို စတင် သိမ်းပိုက်ကြလေသည်။

ဤအခြင်းအရာကို တောင်ပေါ်ရှိ လေးသည်တော်များ တွေ့မြင်သောအခါ ထို လေးသည်တော်များက ယခု ငါတို့ လုံးဝ အောင်နိုင်ကြပြီ၊ ရန်သူများလည်းပြေးကြပြီ၊ ဤနေရာတွင် ဆက်လက်ပြီး တပ်စွဲရန် မလိုတော့ပြီ။ ရန်သူတို့နောက် လိုက်လံတိုက်ခိုက်ကြစို့၊ စစ်လက်ရပစ္စည်းများကို သိမ်းပိုက်ကြစို့ဟု ထင်မြင်ယူဆ ပြောဆိုကြလေ၏။ ထိုအခါ လေးသည်တော်များ၏ အကြီးအမှူးဖြစ်သူ သာဝကကြီးအဗ်ဒုလ္လာဟ် အိဗ်နုဂျုဗိုင်ရ်က ထိုသူများအားတမန်တော်မြတ်၏ မိန့်မှာချက်များကို ပြန်လည်သတိပေးသော်လည်း လေးသည်တော် ၁၂-ဦး မှအပ ကျန်လေးသည်တော်များသည် ဆက်လက်၍ တပ်စွဲနေရန် မလိုတော့ပြီဟု ထင်မြင် ယူဆကြသည့်အတိုင်း တောင်ပေါ်မှ ဆင်းလာပြီးလျှင် စစ်လက်ရပစ္စည်းများကို သိမ်းဆည်းကြလေသည်။ ထိုအချိန်တွင် တောင်ပေါ်၌ သာဝကကြီးအဗ်ဒုလ္လာဟ် အိဗ်နုဂျုဗိုင်ရ်နှင့်အတူ လေးသည်တော် ၁၁-ဦးမျှ ကျန်ရစ်ခဲ့ကြလေ၏။

ထိုအချိန်တွင် ရန်သူတို့ဘက်မှ စစ်ဗိုလ်ကြီးတစ်ဦးဖြစ်သူ ခါလစ်ဒ် အိဗ်နုဝလီဒ်သည် တောင်ထိပ်မှ မွတ်စ်လင်မ်လေးသည်တော်များ ဆင်းလာသည်ကို မြင်သောအခါ မိမိ၏တပ်သား ၂၅၀-နှင့်တကွ အဆိုပါ တောင်ထိပ်သို့ တက်လာပြီးလျှင် တောင်ပေါ်တွင် ကျန်ရှိခဲ့သော မွတ်စ်လင်မ် လေးသည်တော် ၁၂-ဦးတို့အား တိုက်ခိုက်လေသည်။ မွတ်စ်လင်မ် လေးသည်တော်များသည် သက်စွန့်ကြိုးပမ်း ခုခံကာကွယ်ကြသော်လည်း အင်းအားချင်းမမျှသဖြင့် နောက်ဆုံးတွင် အသီးသီးကျဆုံးသွားကြရရာသည်။

မွတ်စ်လင်မ်လေးသည်တော် အသီးသီး ကျဆုံးသွားကြသည့်အခါ ခါလစ်ဒ်အိဗ်နုဝလီဒ်၏ တပ်သားများသည် တောင်ပေါ်မှနေ၍ မွတ်စ်လင်မ် စစ်သည်တော်များ အပေါ်သို့ မြှားမိုး ရွာချ လေသည်။ ➤➤

عَنْهُمْ لِيَبْتَلِيَكُمْ ۚ وَلَقَدْ عَفَا عَنكُمْ ۗ وَاللَّهُ ذُو فَضْلٍ عَلَى الْمُؤْمِنِينَ ﴿١٥٢﴾

(ထိုအခါ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ အကူအညီကို ရုပ်သိမ်းထားတော် မူခဲ့လေသည်၊ အကြောင်းသော်ကား) အသင်တို့အနက် *အချို့သည် လောကီ(အကျိုးစီးပွား)ကို အလိုရှိ၏။* [၁] *အချို့ကမူ နောင်တမလွန်ဘဝ(သုခချမ်းသာ)ကို အလိုရှိ၏။* [၂] ထို့နောက် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား စမ်းသပ်တော်မူရန် အလို့ငှာ ထို (ရန်)သူတို့ကို (သုတ်သင် ရှင်းလင်းနေခြင်း)မှ *အသင်တို့အား ပြန်လှည့်စေတော်မူခဲ့လေသည်။* [၃]

---

➤➤ စစ်မြေပြင်မှဆုတ်ခွါထွက်ပြေးကြသော ကာဖိရ်စစ်သည်များလည်း ပြန်လည် စုရုံးလာကြလေသည်။ ထိုအချိန်တွင် မွတ်စ်လင်မ်များသည် အထက်အောက်ညှပ်မိပြီးလျှင် ရန်သူတို့၏ ဒဏ်ကို အလူးအလဲ ခံလိုက်ကြရလေသည်။ ထိုသို့ အလူးအလဲခံနေရသည့်အချိန် အတွင်းမှာပင် တမန်တော်မြတ် ကျဆုံးသွားပြီ ဟူသော သတင်းထွက်ပေါ်လာသည့်အခါ အချို့မွတ်စ်လင်မ်များသည် စိတ်အားလျော့၍ စစ်မြေပြင်မှပင် ဆုတ်ခွာသွားကြလေသည်။ ဤအာယသ်တော် (၃း ၁၅၂) တွင် 'အသင်တို့သည် စိတ်အားလျှော့သွားခဲ့ကြ၏' ဟူသော အာယသ်တော်သည် အထက်ပါအကြောင်းကိုပင် ရည်ညွှန်းသည်။

(၂) ဤအာယသ်တော် (၃း ၁၅၂) တွင် 'အသင်တို့သည် အမိန့်တော်နှင့် စပ်လျဉ်း၍ အငြင်းပွားခဲ့ကြ၏' ဟူသော အာယသ်တော်သည် အုဟုဒ်စစ်ပွဲတွင် တမန်တော်မြတ်၏ အမိန့်တော်နှင့်စပ်လျဉ်း၍ မွတ်စ်လင်မ် လေးသည်တော်များအချင်းချင်း အငြင်းပွားခဲ့ကြသည့်အကြောင်းကို ရည်ညွှန်းသည်။

(၃) ဤအာယသ်တော် (၃း ၁၅၂) တွင် 'အသင်တို့သည် သွေဖည်ခဲ့ကြ၏' ဟူသော အာယသ်တော်သည် တမန်တော်မြတ်၏ မိန့်မှာချက်ကို အချို့လေးသည်တော်များက မနာခံခဲ့ကြသည်ကို ရည်ညွှန်းသည်။

(၁) "အသင်တို့အနက် အချို့သည် လောကီအကျိုးစီးပွားကို အလိုရှိ၏" ဟူသော အာယသ်တော်သည် တမန်တော်မြတ်၏ မိန့်မှာချက်ကို သွေဖည်၍ အုဟုဒ်တောင်ပေါ်မှ ဆင်းသက်လာခဲ့သော မွတ်စ်လင်မ် လေးသည်တော်များကို ရည်ညွှန်းသည်။

(၂) "အသင်တို့အနက်အချို့သည် နောင်တမလွန်ဘဝကို အလိုရှိ၏" ဟူသော အာယသ်တော်သည် တမန်တော်မြတ်၏ မိန့်မှာချက်အတိုင်း တောင်ပေါ်တွင် ကြံ့ခိုင်တည်မြဲစွာ တပ်စွဲလျက် ရန်သူတို့အား သက်စွန့် ကြိုးပမ်း ခုခံတိုက်ခိုက်၍ ကျဆုံးသွားကြရှာသော မွတ်စ်လင်မ်လေးသည်တော်များကို ရည်ညွှန်းသည်။

(၃) အုဟုဒ်စစ်မြေပြင်တွင် အချို့စစ်သည်များ၏ ချွတ်ယွင်းမှုများကြောင့် မွတ်စ်လင်မ်စစ်သည်တော်များတွင် တည်တံ့ခိုင်မြဲမှုပျက်စီး၍ အမိန့်မနာခံမှုများဖြစ်ပေါ်လာသည့်အခါ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ အကူအညီကို ရုပ်သိမ်းထားလိုက်တော်မူလိုက်၏။ ထိုအခါ မွတ်စ်လင်မ်တို့သည် နိုင်နေကြရာမှ အခိုက်အတန့်အားဖြင့် ရှုံးနိမ့်သွားခဲ့ကြရလေသည်။ ဤကဲ့သို့ဖြစ်စေခြင်းမှာလည်း မွတ်စ်လင်မ်တို့၏ 'အီမာန်' ယုံကြည်ခြင်း သဒ္ဓါတရားနှင့် ခန္တီတရားများကို အလ္လာဟ်အရှင်မြတ် စမ်းသပ်တော်မူရန်ပင်ဖြစ်သည်။

(ယခုမူကား) ထိုအရှင်မြတ်သည် အသင်တို့အား (အပြစ်များမှ) မုချဧကန် ခွင့်လွှတ်တော်မူပြီး *ဖြစ်လေပြီ။* [၁] စင်စစ်တမူကား အလ္လာဟ်အရှင်မြတ်သည် မုအ်မင်န် ယုံကြည်ခြင်း သဒ္ဒါတရားထားရှိသူတို့အဘို့ ကျေးဇူးတော်ရှင် ဖြစ်တော်မူပေသတည်း။

**၁၅၃။** (ပြန်လည်အောက်မေ့ သတိရကြလေကုန်) တရံရောအခါ အသင်တို့သည် ("အုဟုဒ်" စစ်မြေပြင်မှ) မည်သူတစ်ဦးတစ်ယောက်ကိုမျှ ပြန်လှည့်၍ မကြည့်ဘဲ (ကိုယ်လွတ်ရုန်းကာ) *ထွက်ပြေးနေကြလေသည်။* [၂] စင်စစ် (ထိုအခါ) ရစူလ်တမန်တော်သည် အသင်တို့နောက်မှ အသင်တို့အားဟစ်ခေါ် လျက်ရှိတော်မူခဲ့လေသည်။ (သို့ရာတွင် အသင်တို့ သည် မလိုက်နာဘဲ ရစူလ်တမန်တော်ကို စိတ်ဆင်းရဲ ခြင်း ဖြစ်စေခဲ့ကြသည်။) သို့ ဖြစ်ပေရာ အလ္လာဟ် အရှင်မြတ်သည် (နဗီတမန်တော်ကို အသင်တို့ စိတ်ဆင်းရဲခြင်း ဖြစ်စေခဲ့ကြသည့်အတွက်) အသင်တို့အား *စိတ်ဆင်းရဲခြင်းအစား စိတ်ဆင်းရဲခြင်းကိုပင် ပေးတော်မူခဲ့လေသည်။* [၃]

إِذْ تُصْعِدُونَ وَلَا تَلْوُونَ
عَلَىٰٓ أَحَدٍ وَٱلرَّسُولُ
يَدْعُوكُمْ فِىٓ أُخْرَىٰكُمْ
فَأَثَـٰبَكُمْ غَمًّۢا بِغَمٍّ
لِّكَيْلَا تَحْزَنُوا۟ عَلَىٰ
مَا فَاتَكُمْ وَلَا مَآ
أَصَـٰبَكُمْ ۗ وَٱللَّهُ
خَبِيرٌۢ بِمَا تَعْمَلُونَ ﴿١٥٣﴾

---

⓵ အုဟုဒ်စစ်မြေပြင်တွင် ပါဝင်ဆင်နွှဲကြကုန်သော မွတ်စ်လင်မ်စစ်သည်တော်များသည် မိမိတို့၏ ချွတ်ယွင်းချက်များကြောင့် လောက၌ နစ်နာဆုံးရှုံးခဲ့ကြရသော်လည်း 'မုအ်မင်န်' တို့အား အထူးအကျိုးပြုတော်မူသော အလ္လာဟ်အရှင်မြတ်သည် ထိုမွတ်စ်လင်မ် စစ်သည်တော်များအား ချမ်းသာခွင့်ပြုတော်မူလိုက်ပြီးဖြစ်သဖြင့် နောင် 'ကိယာမတ်' နေ့တွင်မူကား ထိုအရှင်မြတ်၏ ပြစ်ဒဏ်တော်မှ လုံး၀ လွတ်ငြိမ်းချမ်းသာခွင့် ရရှိကြမည်မှာ မုချပင်ဖြစ်ပေသည်။

⓶ 'အုဟုဒ်' စစ်မြေပြင်တွင် မွတ်စ်လင်မ်စစ်သည်များသည် ကစဥ့်ကလျား ဖြစ်ပြီး စစ်မြေပြင်မှပင် အချို့ဆုတ်ခွာထွက်ပြေးကြလေသည်။ တစ်ဦးကိုတစ်ဦးပြန်လှည့် မကြည့်နိုင်ကြပေ။ ထိုအချိန်တွင် တမန်တော်မြတ်သည် မိမိနေရာ၌ ရပ်တည်လျက် ကစဥ့်ကလျား ထွက်ပြေးလျက်ရှိသော စစ်သည်တော်များအား မိမိထံသို့ ပြန်လှည့်လာကြရန် ခေါ်လျက် ရှိတော်မူ၏။ ယင်းသို့ ခေါ်တော်မူသည်ကိုပင် အချို့ စစ်သည်တော်များသည် မကြားနိုင်ကြပေ။ တပ်ပျက်၍ ဖရိုဖရဲ ဖြစ်သည့်အခါ အသီးသီး မိမိကိုယ်ကို မိမိ အလွတ်ရုန်းသည်မှာ မထူးဆန်းပေ။ ဖြစ်လေ့ရှိသော ကိစ္စတရပ်ပင်ဖြစ်ချေသည်။

သို့မှသာလျှင် အသင်တို့သည် (ဤသည်ကို အကြောင်းပြု၍ နောက်နောင်များတွင်) မိမိတို့ လက်လွတ်သွားသော ကိစ္စများနှင့် စပ်လျဉ်း၍၎င်း၊ မိမိတို့၌ ဆိုက်ရောက်လာသော ဘေးဒုက္ခများနှင့် စပ်လျဉ်း၍၎င်း၊ *ပူဆွေးကြမည်မဟုတ်ပေ၊* [၁] စင်စစ် တမူကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ပြုလုပ်ကြကုန်သော ကိစ္စအရပ်ရပ်တို့ကို အကြွင်းမဲ့ ကြားသိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေ သတည်း။

ثُمَّ أَنزَلَ عَلَيْكُم مِّنۢ بَعْدِ ٱلْغَمِّ أَمَنَةً نُّعَاسًا يَغْشَىٰ طَآئِفَةً مِّنكُمْ ۖ وَطَآئِفَةٌ قَدْ أَهَمَّتْهُمْ

**၁၅၄။** တဖန် (ယင်းကဲ့သို့) စိတ်ဆင်းရဲခြင်း ဖြစ်ကြပြီးနောက် (စိတ်ချမ်းသာစေရန်) ထို အရှင်မြတ်သည် အသင်တို့အပေါ်၌ ဘေးရန်ကင်းငြိမ်းခြင်း တည်းဟူသော *ငိုက်မျည်းခြင်းကို ချပေးတော်မူခဲ့လေသည်။* [၂] ယင်းငိုက်မျည်းခြင်းသည် အသင်တို့ အနက်မှ လူတစ်စုကို လွှမ်းမိုးခဲ့လေသည်။

(၃) 'အုဟုဒ်' စစ်မြေပြင်တွင် အချို့မွတ်စ်လင်မ် စစ်သည်တော်များသည် တမန်တော်မြတ်၏ အမိန့်တော်ကို သွေဖည်ငြင်းဆန်ကြပြီး တမန်တော်မြတ်အား စိတ်ဆင်းရဲအောင် ပြုလုပ်ခဲ့ကြ၏။ ထို့အတွက်ကြောင့်ပင် အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့အား စိတ်ဆင်းရဲစေခြင်း၏ အစား စိတ်ဆင်းရဲစေခြင်းကို ဖြစ်စေတော်မူလေသည်။

(၁) မွတ်စ်လင်မ်တို့သည် 'အုဟုဒ်' စစ်ပွဲတွင် မိမိတို့၏ မှားယွင်းမှုများကြောင့်ပင်လျှင် အကြီးအကျယ် စိတ်ဆင်းရဲခဲ့ကြ၏။ သို့ဖြစ်ပေရာ မွတ်စ်လင်မ်တို့သည် ထိုစစ်ပွဲမှ သင်ခန်းစာရယူပြီး နောင်အခါများတွင် လုံ့လဝီရိယ ရှိကြရပေမည်။ ဖွဲသတ္တိရှိကြရပေမည်။ ခံနိုင်ရည်ရှိကြရပေမည်။ ရင့်ကျက်လာကြရပေမည်။ ယင်းသို့အားဖြင့် မွတ်စ်လင်မ်တို့သည် မိမိတို့ တွေ့ကြုံခဲ့ရသော ဘေးဒုက္ခများ၊ မိမိတို့ လက်လွတ်လိုက်ရသည့် အခွင့်အလမ်းများနှင့် စပ်လျဉ်း၍ ပူးဆွေးကြမည်မဟုတ်ပေ။

(၂) 'အုဟုဒ်' စစ်မြေပြင်မှ ကာဖိရ်စစ်သည်များ ပြန်လည် ဆုတ်ခွာသွား ကြသည့်အခါ ကိုယ်စိတ် နှစ်ဖြာပင်ပန်းနွမ်းနယ်လျက် ရှိသော မွတ်စ်လင်မ် စစ်သည်တော်များ အပေါ်သို့ အလ္လာဟ် အရှင်မြတ်သည် စိတ်ချမ်းသာမှုတည်းဟူသော ငိုက်မြည်းခြင်းကို ချပေးသနားတော်မူခဲ့၏။ ထိုအချိန်တွင် အချို့မွတ်စ်လင်မ် စစ်သည်တော်များသည် တရေးတမိုတ် အိပ်ပျော်၍ပင် သွားခဲ့ကြ၏။ ယင်းသို့ အားဖြင့် မွတ်စ်လင်မ် စစ်သည်တော်များသည် ကာယိကဒုက္ခ၊ စေတသိကဒုက္ခ၊ ကိုယ်၏ဆင်းရဲခြင်း၊ စိတ်၏ ဆင်းရဲခြင်းဖြစ်နေရာ ကာယသုခ၊ စိတ္တသုခ၊ ကိုယ်၏ ချမ်းသာခြင်း၊ စိတ်၏ ချမ်းသာခြင်း ဖြစ်လာခဲ့ ကြလေသည်။ ➤➤

اَنْفُسُهُمْ يَظُنُّوْنَ بِاللّٰهِ
غَيْرَ الْحَقِّ ظَنَّ الْجَاهِلِيَّةِ ۚ
يَقُوْلُوْنَ هَلْ لَّنَا مِنَ الْاَمْرِ
مِنْ شَيْءٍ ۚ قُلْ اِنَّ الْاَمْرَ كُلَّهٗ
لِلّٰهِ ۚ يُخْفُوْنَ فِيْٓ اَنْفُسِهِمْ مَّا
لَا يُبْدُوْنَ لَكَ ۚ يَقُوْلُوْنَ
لَوْ كَانَ لَنَا مِنَ الْاَمْرِ شَيْءٌ

သို့ရာတွင် (မုနာဖစ်က်မည်သော) လူတစ်စုမှာမူ၊ မိမိတို့၏ *အသက်(ဘေးအန္တရာယ်)များကိုသာ စိုးရိမ်နေခဲ့ကြကုန်သည်။* [၁] ထိုသူတို့ကား အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ *မမှန်ကန်သော၊ မိုက်မဲသော(ခေတ်က) ထင်မြင်ယူဆချက်မျိုးကို ယူဆခဲ့ကြကုန်၏။* [၂]

ထိုသူတို့က "အကျွန်ုပ်တို့၌ (ယခုတွေ့ကြုံနေရသော ကိစ္စနှင့်စပ်လျဉ်း၍) တစုံတရာ ပြောရေးဆိုခွင့် အမိန့်အာဏာများရှိပါသလား" *ဟုပြောဆိုကြ၏။* [၃] (အို-နဗီတမန်တော်) "အမိန့်အာဏာ အားလုံးတို့သည် အလ္လာဟ် အရှင်မြတ်၌သာ ရှိသည်" ဟု အသင် ပြောကြားပါလေ။

---

➤➤ ကိုယ်စိတ်နှစ်ဖြာ ပင်ပန်းနွမ်းနယ်လျက် ခြေကုန်လက်ပန်း ကျနေသော အချိန်အခါ မျိုးတွင် ခေတ္တခဏ တရေးတမိုတ် အိပ်စက်လိုက်ရခြင်းသည် အဘယ်မျှ အကျိုးရှိသည်ကို စစ်မြေပြင်သို့ ထွက်၍ သက်စွန့်ကြိုးပမ်း တိုက်ခိုက်ကြဘူးသော စစ်သည်တော်များသည် ကောင်းစွာ သိရှိနိုင်ကြပေသည်။

ကြည့် - မာဂျိဒီ။

(၁) 'အုဟုဒ်' စစ်မြေပြင်တွင် မွတ်စ်လင်မ် စစ်သည်များနှင့်အတူ အခြားလူတစ်စုလည်း ရှိသေး၏။ ထိုသူများသည် 'မုနာဖစ်က်' များ ဖြစ်ကြ၏။ ထိုသူများသည် အစ္စလာမ် သာသနာ၏အရေး၊ နဗီတမန်တော် အရေးနှင့် မွတ်စ်လင်မ်တို့၏ အရေးများကို အနည်းငယ်မျှပင် စိတ်မဝင်စားခဲ့ကြပေ။ မိမိတို့၏ အသက်ဘေးန္တရာယ်ကို သာလျှင် စိုးရိမ် ကြောင့်ကြနေခဲ့ကြ၏။

"မိမိတို့၏ အသက်ဘေးအန္တရာယ်ကိုသာ စိုးရိမ်နေသော လူတစ်စု" ဟူသည် 'မုနာဖစ်က်' များပင် ဖြစ်ကြသည်ဟူ၍ 'မုဖာစစ်စိရီန်' အဋ္ဌကထာရှင် အားလုံးလိုလိုကပင် ဆိုကြသည်။ သို့ရာတွင် အလ်မနာရ် ကျမ်းရှင်ကမူ ထိုသူများသည် မုနာဖစ်က်များ မဟုတ်ကြချေ။ 'အီမာန်' ယုံကြည်ခြင်းသဒ္ဓါတရား နနယ်သော မွတ်စ်လင်မ်များပင် ဖြစ်ကြသည်ဟူ၍ အလ်မနာရ်ကျမ်း၊ အတွဲ-၄၊ စာမျက်နှာ-(၁၈၆-၁၈၈)တွင် ရေးသားဖော်ပြထားသည်။

(၂) 'မုနာဖစ်က်' များသည် အလ္လာဟ်အရှင်မြတ်နှင့် စပ်လျဉ်း၍ 'ဂျာဟိလီယတ်' ခေါ် အစ္စလာမ်သာသနာ မထွန်းကားမီခေတ်က လူမိုက်များ ထင်မှတ်ယူဆကြသကဲ့သို့ မမှန်ကန်သော အတွေးအခေါ်များကိုပင် တွေးတောခဲ့ကြ၏။ အမိုက်ခေတ်၏ အယူအဆတစ်ရပ်မှာ "အလ္လာဟ်အရှင်မြတ်သည် ကတိပြုတော်မူပြီးသည့်နောက် မိမိ၏ကတိတော်အတိုင်း မပြုလုပ်ဘဲလည်း နေတော်မူ၏" ဟူ၍ဖြစ်၏။ ဤကား လုံးဝမမှန်ကန်သော အယူအဆမျှသာဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် ဘယ်သောအခါမျှ မိမိ၏ ကတိတော်ကို ➤➤

ثُمَّ قُتِلْنَا هَاهُنَا ۗ قُل لَّوْ كُنتُمْ فِي بُيُوتِكُمْ لَبَرَزَ الَّذِينَ كُتِبَ عَلَيْهِمُ الْقَتْلُ إِلَىٰ مَضَاجِعِهِمْ ۖ وَلِيَبْتَلِيَ اللَّهُ مَا فِي صُدُورِكُمْ وَلِيُمَحِّصَ مَا فِي قُلُوبِكُمْ ۗ وَاللَّهُ عَلِيمٌ بِذَاتِ الصُّدُورِ ﴿١٥٤﴾

(စစ်စစ်အားဖြင့်) ထိုသူတို့သည် မိမိတို့ စိတ်တွင်း၌ ထိမ်ချန် ထားရှိသမျှတို့ကို အသင့်အား (ပွင့်လင်းစွာ) ထုတ်ဖော်(ပြောဆို)ကြသည်မဟုတ်ပေ။ ယင်းသူတို့က "အကယ်၍သာ အကျွန်ုပ်တို့၌ တစုံတရာမျှသော အမိန့်အာဏာသည် ရှိခဲ့ပါမူ အကျွန်ုပ်တို့သည် ဤနေရာ(စစ်မြေပြင်)၌ အသတ်ခံကြရမည် မဟုတ်ပေ" ဟု ပြောဆိုကြကုန်၏။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) ပြောကြားပါလေ။ အကယ်၍ အသင်တို့သည် မိမိတို့အိမ်များ၌ပင် ရှိနေကြသည့်တိုင်အောင် (ရှေးဦးမစွက) အသတ်ခံရန် သတ်မှတ်ပြဋ္ဌာန်းပြီး ဖြစ်ကြသောသူတို့မှာကား မိမိတို့ အသတ်ခံရမည့်နေရာများသို့ မုချ ထွက်လာကြရမည်သာဖြစ်၏။ စင်စစ်သော်ကား (ယင်းကဲ့သို့ ဖြစ်ခဲ့ရသည်မှာ) အလ္လာဟ် အရှင်မြတ်သည် အသင်တို့၏ ရင်များအတွင်း၌ရှိသော (ယုံကြည်မှု)ကို စမ်းသပ်တော်မူခြင်းငှာရင်း၊ အသင်တို့ စိတ်နှလုံးများ၌ရှိသော (အညစ်အကြေးတို့)ကို သန့်ရှင်းစင်ကြယ်စေတော်မူခြင်းငှာရင်း၊ ဖြစ်ချေသည်။

➤➤ ဖောက်ဖျက်တော်မူသည် မဟုတ်ချေ။ ကြည့် - ကုရ်အာန် (၃း ၈။ ၁၃း ၃၁။ ၁၄း ၄၇။ ၂၂း ၄၇။ ၃၀း ၆။ ၃၉း ၂၀။)

'ဂျာဟိလီယတ်' အမိုက်ခေတ်ဟူသည် အစ္စလာမ်သာသနာမထွန်းကားမီ 'ရှစ်ရ်က်' ခေါ် အလ္လာဟ် အရှင်မြတ်နှင့် တုဘက်ယှဉ်တွဲ၍ ဘုရားအများ ကိုးကွယ်ခဲ့သည်ခေတ်ကို ဆိုသည်။ ကြည့်-မာဂျိဒ်။

(၁) 'မုနာဖစ်က်' တို့သည် မမှန်ကန်သော အတွေးအခေါ်များကို ထင်မြင်ယူဆခဲ့ကြသည်သာမက နှုတ်မှ ဖွင့်ဟပြီး အကယ်၍သာ အကျွန်ုပ်တို့၌ တစုံတရာ အခွင့်အာဏာရှိလျှင် (ဆိုလိုသည်ကား အကျွန်ုပ်တို့ အကြံပေးချက်ကို လက်ခံပါလျှင်) ကျွန်ုပ်တို့သည် ဤနေရာ၌ အသတ်ခံကြရမည် မဟုတ်ပေဟူ၍လည်း ပြောဆိုခဲ့ကြသေး၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်က အကယ်၍ အသင်တို့သည် မိမိတို့အိမ်များတွင် ရှိနေစေကြကာမူ အသတ်ခံရန် သတ်မှတ် ပြဋ္ဌာန်းပြီးဖြစ်သောသူများမှာကား မိမိတို့ အသတ်ခံရမည့် နေရာများသို့ မုချ ထွက်လာကြပေမည် ဟု နဗီ တမန်တော်မြတ်အား ဖြေကြားတော် မူစေသည်။ ဆိုလိုသည်ကား Man Proposes God Disposes ဆိုသကဲ့သို့ အလ္လာဟ်အရှင်မြတ်၏ အဆုံးအဖြတ်သည်သာလျှင် အဓိကဖြစ်သည်။ လူသားတို့၏ အကြံအစည်ကား အဓိက မဟုတ်ချေ။

အမှန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် (လူသားတို့၏) ရင်များအတွင်း၌ရှိသည့် အရာတို့ကို အကြွင်းမဲ့သိရှိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

إِنَّ الَّذِينَ تَوَلَّوْا مِنكُمْ يَوْمَ الْتَقَى الْجَمْعَانِ إِنَّمَا اسْتَزَلَّهُمُ الشَّيْطَانُ بِبَعْضِ مَا كَسَبُوا ۖ وَلَقَدْ عَفَا اللَّهُ عَنْهُمْ ۗ إِنَّ اللَّهَ غَفُورٌ حَلِيمٌ ﴿١٥٥﴾

၁၅၅။ အသင်တို့ အနက်မှ အကြင် သူတို့သည် (မွတ်စ်လင်မ်နှင့် ကာဖိရ်) လူစုနှစ်စုတို့ တစ်ဘက်နှင့် တစ်ဘက် ရင်ဆိုင်တွေ့ဆုံ တိုက်ခိုက်ကြသောနေ့တွင် (စစ်မြေပြင်မှ) စေကန်စင်စစ် ကျောခိုင်း၍ ပြန်လှည့် ဆုတ်ခွာသွားကြ၏။ (စင်စစ်တမူကား) ရှိုင်တွာန်သည် ထိုသူတို့ပြုကျင့်ခဲ့သော အချို့ ပြုမူချက်များကြောင့်ပင် ထိုသူတို့ကို ခြေချော်အောင် ပြုလုပ်ခဲ့လေပြီ။ သို့ရာတွင် အလ္လာဟ် အရှင်မြတ်သည်ကား ထိုသူတို့အား အမှန်စင်စစ် ခွင့်လွှတ်တော်မူခဲ့လေပြီ။

စေကန်မုချ အလ္လာဟ် အရှင်မြတ်သည် လွှတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူထသော အရှင်မြတ်၊ အလွန်တရာ ထောက်ထား ညှာတာ သည်းခံတော်မူထသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

يَا أَيُّهَا الَّذِينَ آمَنُوا لَا تَكُونُوا كَالَّذِينَ كَفَرُوا وَقَالُوا

၁၅၆။ အို- 'မုအ်မင်န်' သက်ဝင် ယုံကြည်သူ အပေါင်းတို့။ အသင်တို့သည် အကြင်သူတို့ကဲ့သို့ မဖြစ်ကြကုန်လင့်။ ထိုသူတို့သည် မယုံမကြည် သွေဖည်ငြင်းပယ်ကြသည့်ပြင် ⁽¹⁾ မိမိတို့၏ ညီသား

(၁) ဤအာယသ်တော်တွင် 'မုနာဖစ်က်' များကို 'ကာဖိရ်' များဟူ၍ မိန့်ဆိုထားတော်မူသည်။ မုနာဖစ်က်များသည် အစ္စလာမ်သာသနာကို လက်ခံနာယူကြောင်းကို နှုတ်ဖြင့် ဖွင့်ဟပြောဆိုကြသော်လည်း စိတ်တွင်းကမူ မယုံကြည်ကြပေ။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် စိတ်စေတနာမပါဘဲလျက် နှုတ်မျှဖြင့် အစ္စလာမ်သာသနာကို လက်ခံနာယူကြောင်းပြောဆိုခြင်းသည် 'အီမာန်' မမြောက်ကြောင်းထင်ရှားပေသည်။ ကြည့် - ကဗီရ်။

لِإِخْوَانِهِمْ إِذَا ضَرَبُوا فِي الْأَرْضِ أَوْ كَانُوا غُزًّى لَّوْ كَانُوا عِندَنَا مَا مَاتُوا وَمَا قُتِلُوا لِيَجْعَلَ اللَّهُ ذَٰلِكَ حَسْرَةً فِي قُلُوبِهِمْ ۗ وَاللَّهُ يُحْيِي وَيُمِيتُ ۗ وَاللَّهُ بِمَا تَعْمَلُونَ بَصِيرٌ ﴿١٥٦﴾

အစ်ကိုများနှင့်ပတ်သက်၍ ထိုညီသားအစ်ကိုများသည် ပထဝီမြေပြင်ဝယ် (သာသနာရေး ကိစ္စနှင့်) ခရီးသွားလာကြသောအခါ (ကွယ်လွန် သေဆုံးခဲ့သည်) ဖြစ်စေ၊ စစ်သည်တော်များဖြစ်(၍ စစ်မြေပြင်၌ကျဆုံး) ခဲ့သည်ဖြစ်စေ၊ “အကယ်၍သာ ထိုသူတို့သည် ငါတို့နှင့်အတူရှိနေခဲ့ကြပါလျှင် (ယင်းကဲ့သို့) သေကြေပျက်စီးကြမည်လည်းမဟုတ်။ သတ်ဖြတ်ခြင်းခံကြရမည်လည်း မဟုတ်ပေတကား” ဟု ပြောဆိုလေ့ရှိကြကုန်၏။

အလ္လာဟ်အရှင်မြတ်သည် ထိုသူများကဲ့သို့ အသင်တို့မဖြစ်ကြသည်ကိုပင် ထို (ကာဖိရ်သွေဖည်ငြင်းပယ်သော)သူတို့၏ စိတ်နှလုံးတွင်း၌ ဝမ်းနည်းပူဆွေးဘွယ်တစ်ရပ် ဖြစ်စေတော်မူရန်ဖြစ်သည်။ စင်စစ် အလ္လာဟ်အရှင်မြတ်သည်သာလျှင် ရှင်စေ တော်မူ၏။ ထိုအရှင်မြတ်သည်သာလျှင် သေစေတော် မူ၏။ ထိုမှတပါးတုံ အလ္လာဟ်အရှင်မြတ်သည် အသင်တို့ပြုလုပ်ကြကုန်သော ကိစ္စရပ်တို့ကိုလည်း ခွဲခြားသိမြင်တော်မူသော အရှင်ဖြစ်တော်မူပေသည်။

وَلَئِن قُتِلْتُمْ فِي سَبِيلِ اللَّهِ أَوْ مُتُّمْ لَمَغْفِرَةٌ مِّنَ اللَّهِ وَرَحْمَةٌ خَيْرٌ مِّمَّا يَجْمَعُونَ ﴿١٥٧﴾

**၁၅၇။** သို့ရာတွင်မူကား စင်စစ် အကယ်၍ အသင်တို့သည် အလ္လာဟ် အရှင်မြတ်၏ လမ်းတော်၌ အသတ်ခံကြ ရသည် ဖြစ်စေ၊ သို့တည်းမဟုတ် သေဆုံးကြသည် ဖြစ်စေ၊ သို့ဖြစ်လျှင် အလ္လာဟ်အရှင်မြတ် အထံတော်မှ ခွင့်လွှတ်ချမ်းသာပေးသနားတော်မူခြင်းသည်လည်းကောင်း၊ ကရုဏာတော်သည်လည်းကောင်း။ ထို(ကာဖိရ်)တို့ စုဆောင်းကြကုန်သော အရာဝတ္ထုများထက် မုချကေန် သာလွန်၍ ကောင်းမြတ်ပေသည်။

وَلَئِنْ مُّتُّمْ اَوْ قُتِلْتُمْ لَاِالَى اللّٰهِ تُحْشَرُوْنَ ﴿١٥٨﴾

**၁၅၈။** ထိုနည်းတူစွာ အကယ်၍ အသင်တို့သည် စင်စစ် သေဆုံးကြသည် ဖြစ်စေ၊ သို့တည်းမဟုတ် အသတ်ခံကြရသည်ဖြစ်စေ၊ အသင်တို့သည် အလ္လာဟ် အရှင်မြတ်အထံတော်သို့သာလျှင် မုချ စုရုံးစေခြင်း ခံကြရပေမည်။

فَبِمَا رَحْمَةٍ مِّنَ اللّٰهِ لِنْتَ لَهُمْ ۚ وَلَوْ كُنْتَ فَظًّا غَلِيْظَ الْقَلْبِ لَانْفَضُّوْا مِنْ حَوْلِكَ ۖ فَاعْفُ عَنْهُمْ وَاسْتَغْفِرْ لَهُمْ وَشَاوِرْهُمْ فِى الْاَمْرِ ۚ فَاِذَا عَزَمْتَ فَتَوَكَّلْ عَلَى اللّٰهِ ۗ اِنَّ اللّٰهَ يُحِبُّ الْمُتَوَكِّلِيْنَ ﴿١٥٩﴾

**၁၅၉။** တဖန် (အို- နဗီတမန်တော်) အသင်သည် အလ္လာဟ် အရှင်မြတ်၏ ကရုဏာတော် ကြောင့် သာလျှင် *ထိုသူတို့နှင့်နူးညံ့(စွာဆက်ဆံ)ခဲ့လေပြီ။* [၁] အကယ်၍သာ အသင်သည် ကြမ်းတန်းသောသူ (လူမှုဆက်ဆံရေး၌) *စိတ်သဘော ခက်ထန် ကြမ်းကြုတ်သောသူဖြစ်ခဲ့ပါမူ၊* [၂] ထိုသူတို့သည် အသင်၏ အပါးမှ ကစဥ့်ကလျားဖြစ်ကာ ထွက်ခွာသွားကြမည်မှာ ဧကန်မလွဲတည်း။ သို့ဖြစ်ရကား အသင်သည် ထိုသူတို့(၏ ချွတ်ယွင်းမှုများ)ကို ခွင့်လွှတ်ပါလေ။ (အလ္လာဟ်အရှင်မြတ်အထံတော်၌လည်း) ထိုသူတို့ အတို့ လွတ်ငြိမ်းချမ်းသာခွင့်ကို အသနားခံပေးပါလေ။ ထိုမှတပါးတုံ အသင်သည် ရေးခွင့်ကိစ္စအဝဝနှင့် စပ်လျဥ်း၍ *ထိုသူတို့နှင့်တိုင်ပင်ဆွေးနွေးပါလေ။* [၃]

---

(၁) 'အုဟုဒ်' စစ်မြေပြင်တွင် အချို့မွတ်စ်လင်မ်များ၏ ချွတ်ယွင်းမှု၊သွေဖည်မှု၊ မိမိတို့၏ ထင်မြင်ယူဆချက်အတိုင်း ပြုမှုအစရှိသည်များကြောင့် မွတ်စ်လင်မ်စစ်သည်တော် ၇၀-ခန့်ကျဆုံးခဲ့ကြရ၏။ အကြီးအကျယ် နစ်နာဆုံးရှုံး ခဲ့ကြရ၏။ အနိုင်သည်အရှုံးဖြစ်ခဲ့ရ၏။ သို့ဖြစ်သောကြောင့် တမန်တော်မြတ်သည်အကြီးအကျယ် စိတ်ဆင်းရဲခြင်း ဖြစ်ခဲ့ရရှာ၏။ သို့ရာတွင်တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်အဟုန်ကြောင့် ထိုကဲ့သို့ မှားယွင်းခဲ့သော မွတ်စ်လင်မ်စစ်သည်တော်တို့အား အပြစ်ထားတော်မမူဘဲ ထိုသူတို့နှင့် နူးညံ့သိမ်မွေ့စွာ ဆက်ဆံတော်မူခဲ့လေသည်။ ဤကား ကမ္ဘာ့ရာဇဝင်တွင် အံ့ချီးမဆုံးသော ကိစ္စတစ်ရပ်ပင် ဖြစ်ပေတော့သည်။

(၂) တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ စိတ်ဓါတ် နူးညံ့ သိမ်မွေ့ပုံများ၊ သနားကြင်နာပုံများ၊ ထောက်ထား ညှာတာပုံများ၊ သည်းခံပုံများ၊ စိတ်ချုပ်တည်းပုံများ၊ ကရုဏာတရား ပွားများပုံများကား၊ အလွန်တရာ များပြားလှတော့၏။ ထိုထိုသော အကြောင်းများကို 'ဟဒီဆ်' ကျမ်းကြီးများနှင့် 'စီရတ်' တမန်တော်မြတ်၏ အတ္ထုပ္ပတ္တိ ကျမ်းကြီးများတွင် အကျယ်တဝင့် ရေးသားထားပေသည်။ ➢➢

(သို့ဆွေးနွေးတိုင်ပင်) ပြီးနောက် အသင်သည် (တစုံတရာသော ကိစ္စနှင့်စပ်လျဉ်း၍) ပြုလုပ်ရန် စိတ်ပြဋ္ဌာန်းလိုက်သည့်အခါ *အလ္လာဟ်အရှင်မြတ် အပေါ်ဝယ် ယုံကြည် စိတ်ချ လွှဲအပ်(၍ ပြုလုပ်) ပါလေ။* [၁] အမှန်စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည် (မိမိအပေါ်ဝယ်) ယုံကြည်စိတ်ချ အားထားသောသူတို့ကို ချစ်ခင်တော်မူလေသတည်း။

إِن يَنصُرْكُمُ ٱللَّهُ فَلَا غَالِبَ لَكُمْ ۖ وَإِن يَخْذُلْكُمْ فَمَن ذَا ٱلَّذِى يَنصُرُكُم مِّنۢ بَعْدِهِۦ ۗ

**၁၆၀။** (အို-သက်ဝင်ယုံကြည်သူ အပေါင်းတို့) အကယ်၍ အလ္လာဟ် အရှင်မြတ်သည် အသင်တို့အား ကူညီစောင်မတော် မူပါလျှင်၊ *အသင်တို့အပေါ်၌ အောင်မြင် လွှမ်းမိုးမည့်သူဟူ၍ မည်သူ တစ်ဦး တစ်ယောက်မျှ ရှိတော့မည်မဟုတ်ပေ။* [၂]

---

➤➤ တမန်တော်မြတ်နှင့်ပတ်သက်၍ အထူးမှတ်သားထားအပ်သည့်အချက်တစ်ရပ်မှာ တမန်တော်မြတ်သည် မိမိတစ်သက်တာပတ်လုံး မိမိကိုယ်ရေးအတွက် မည်သူတစ်ဦးတစ်ယောက်ကိုမျှ တုံ့ပြန်လက်စားချေတော်မမူခဲ့ချေ။

(၃) 'အုဟုဒ်'စစ်မြေပြင်တွင်မှားယွင်းချွတ်ချော်ခဲ့သော မွတ်စ်လင်မ်စစ်သည်တော်များနှင့် စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား 'အသင်သည် ထိုသူတို့အား ခွင့်လွှတ်ပါလေ။ ထိုသူတို့အတို့ လွတ်ငြိမ်းချမ်းသာခွင့်ကိုလည်း အသနားခံပေးပါလေ။ နောက်ပြီး အမှုကိစ္စများကို ဆောင်ရွက်ရာတွင် ထိုသူများနှင့် တိုင်ပင်ဆွေးနွေးပါလေ' ဟု အဆုံးအမ ဩဝါဒပေးတော်မူခဲ့သည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် နောက်လိုက်တပည့်သားတို့အား ကြင်နာမှု၊ ထောက်ထားညှာတာမှု၊ အရေးကိစ္စများကို ဆောင်ရွက်ရာတွင် ငယ်သားတို့နှင့် တိုင်ပင်ဆွေးနွေးမှုသည် အဘယ်မျှ အရေးကြီးသည်ကို ကောင်းစွာ သိရှိနိုင်ပေသည်။

(၁) အချင်းချင်း ဆွေးနွေးတိုင်ပင်ပြီးသည့်နောက် ကိစ္စတစ်ရပ်ကို ပြုလုပ်ရန် အတိအကျ စိတ်ပိုင်းဖြတ်လိုက်သည့်အခါ အလ္လာဟ် အရှင်မြတ်အား ယုံပုံအားထားပြီးလျှင် မဆုတ်မနစ်သော လုံ့လဥဿဟာဖြင့် ထိုကိစ္စကို ပြုလုပ်ဆောင်ရွက်ရပေမည်။ ဤအာယသ်တော်တွင် အချင်းချင်း ဆွေးနွေးတိုင်ပင် နှီးနှောခွင့် ပြုထားသော်လည်း တကယ်မှီခို အားထားရမည့်အရာကား အခြားမဟုတ်၊ အလ္လာဟ် အရှင်မြတ်သာလျှင် ဖြစ်တော်မူကြောင်းကို ညွှန်ပြ ထားတော်မူသည်။ အလ္လာဟ်အရှင်မြတ်က မိမိ၏နဗီတမန်တော်အား မည်သည့်အခါမဆို နဗီတမန်တော်သည် အရာတစ်ခုကို ပြုလုပ်ရန် အတိအကျ စိတ်ပိုင်းဖြတ်လိုက်သည့်အခါ အလ္လာဟ်အရှင်မြတ်အားသာလျှင် ယုံပုံအားထားရမည်။ ထိုမွတ်စ်လင်မ်တို့နှင့် ဆွေးနွေးတိုင်ပင်မှု အပေါ်၌ ယုံပုံအားမထားရဟု အမိန့်ပေးထားတော်မူသည်။ ဤကား ကတာဒဟ်သခင်၏ အဆိုတည်း။ ကုရ်တုဗီ။

(၂) ဥပမာ မွတ်စ်လင်မ်တို့သည် 'ဗဒ်ရ်' စစ်ပွဲတွင် အလ္လာဟ်အရှင်မြတ်၏ အကူအညီကို ရရှိခဲ့ကြသဖြင့် အောင်နိုင်ခဲ့ကြ၏။ ဤကား အမိန့်တော်နာခံခြင်း၏ အကျိုးပင်။ ကြည့် - မာရိဒီ။

وَعَلَى اللّٰهِ فَلْيَتَوَكَّلِ الْمُؤْمِنُوْنَ ﴿١٦٠﴾

သို့ရာတွင် အကယ်၍သာ ထို အရှင်မြတ်သည် အသင်တို့အား (ကူညီစောင်မတော်မူခြင်း မပြုဘဲ) *စွန့်ပစ်ထားတော်မူပါလျှင်၊* [၁] ထိုကဲ့သို့ စွန့်ပစ်ထားတော် မူပြီးနောက် အသင်တို့အား ကူညီစောင်မမည့် သူသည် အဘယ်သူ ရှိပါသေးသနည်း။ သို့ဖြစ်ရကား ယုံကြည်ခြင်း သဒ္ဓါတရားထားရှိသော သူတို့သည် အလ္လာဟ် အရှင်မြတ် အပေါ်၌သာလျှင် ယုံကြည်စိတ်ချ အားထားကြရပေမည်တည်း။

وَمَا كَانَ لِنَبِيٍّ اَنْ يَّغُلَّ ؕ وَمَنْ يَّغْلُلْ يَاْتِ بِمَا غَلَّ يَوْمَ الْقِيٰمَةِ ۚ ثُمَّ تُوَفّٰى كُلُّ نَفْسٍ مَّا كَسَبَتْ وَهُمْ لَا يُظْلَمُوْنَ ﴿١٦١﴾

**၁၆၁။** ၎င်းပြင်၊ မည်သည့် နဗီတမန်တော် တပါးမျှ ထိမ်ချန် လျှို့ဝှက်ခြင်း (သစ္စာမဲ့ခြင်း) မရှိခဲ့ပြီ။ အမှန်စင်စစ်သော်ကား မည်သူမဆို ထိမ်ချန်လျှို့ဝှက်ခဲ့ပါမူ ထိုသူသည် ရှင်ပြန်ထမည့် နေ့တွင် မိမိ ထိမ်ချန်လျှို့ဝှက်သော အရာများကို (အလ္လာဟ် အရှင်မြတ်၏ရှေ့တော်မှောက်သို့) ယူဆောင်လာအံ့။

ထို့နောက် လူတိုင်းသည် မိမိ ရှာဖွေဆည်းပူးခဲ့သမျှ(သောကုသိုလ်အကုသိုလ်၏အကျိုး)ကို အပြည့်အစုံရရှိကြလတ္တံ့။ ၎င်းပြင် ထိုသူတို့သည် မတရားပြုခြင်းကို *အလျှင်း ခံကြရမည်မဟုတ်ချေ။* [၂]

---

(၁) ဥပမာ မွတ်စ်လင်မ်တို့သည် အုဟုဒ်စစ်ပွဲတွင် အမိန့်တော်ကို အချို့စစ်သည်တော်များ၏ မနာခံမှုကြောင့် အလ္လာဟ်အရှင်မြတ်၏ ပစ်ပယ်ခြင်းကိုခံလိုက်ကြရသဖြင့် ခေတ္တခဏ စစ်ရေးရှုံးနိမ့်ခဲ့ကြရ၏။ ဤကား အမိန့်မနာခံမှု၏ အကျိုးပင်။ ကြည့် - မာဂျိဒီ။

(၂) ထုတ်ပြန်ပို့ချတော်မူသည့်အကြောင်း။

'ဗဒ်ရ်' စစ်ပွဲတွင် (စစ်လက်ရပစ္စည်းများအနက်) နီလွင်သော ကတ္တီပါ ဝတ်ရုံတထည် ပျောက်ဆုံးနေသည့်အခါ အချို့သူများက 'တမန်တော်မြတ်သည် ထိုဝတ်ရုံကို ယူထားကောင်း ယူထားပေလိမ့်မည်' ဟု ပြောဆိုကြ၏။ ထိုအခါ ဤအာယသ်တော် ကျရောက်လာလေသည်။

(အထက်ပါအကြောင်းကို ပြောဆိုသူမှာ 'မုနာဖစ်က်' ဖြစ်ပါမူ ထိုသူသည် တမန်တော်မြတ်အား မဟုတ်မမှန် စွပ်စွဲပြောဆိုခြင်းသာလျှင် ဖြစ်ပေသည်။ အကယ်၍ ပြောဆိုသူမှာ မွတ်စ်လင်မ် တစ်ဦး ➤➤

أَفَمَنِ اتَّبَعَ رِضْوَانَ اللَّهِ كَمَنۢ بَآءَ بِسَخَطٍ مِّنَ اللَّهِ وَمَأْوَىٰهُ جَهَنَّمُ ۚ وَبِئْسَ الْمَصِيرُ ﴿١٦٢﴾

၁၆၂။ သို့ဖြစ်ရာ *အလ္လာဟ် အရှင်မြတ်၏* နှစ်သက်လိုလားမှုကို လိုက်နာပြုလုပ်သောသူသည် [၁] အကြင်သူ(ယုတ်)ကဲ့သို့ အဘယ်မှာလျှင် ဖြစ်နိုင်အံ့နည်း။ ထိုသူယုတ်သည် *အလ္လာဟ်အရှင်မြတ်၏ အမျက်တော်ကိုခံစားခဲ့ရ၏။* [၂] ထိုသူ၏ ပြန်လည်ရာဌာနသည် ငရဲဘုံဖြစ်၏။ ထိုငရဲဘုံသည် အလွန်ယုတ်ညံ့ ဆိုးရွားလှသော ပြန်လည်ရာ ဌာနပင်ဖြစ်ပေသည်။

هُمْ دَرَجَٰتٌ عِندَ اللَّهِ ۗ وَاللَّهُ بَصِيرٌۢ بِمَا يَعْمَلُونَ ﴿١٦٣﴾

၁၆၃။ ထိုသူတို့အဘို့ အလ္လာဟ်အရှင်မြတ်ထံတော်၌ *အဆင့်အတန်း အမျိုးမျိုး ရှိကြကုန်၏။* [၃] အမှန်သော်ကား အလ္လာဟ် အရှင်မြတ်သည် ထိုသူတို့ပြုမူကြကုန်သော ကိစ္စအရပ်ရပ်တို့ကို ခွဲခြားသိမြင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

لَقَدْ مَنَّ اللَّهُ عَلَى الْمُؤْمِنِينَ إِذْ بَعَثَ فِيهِمْ رَسُولًا مِّنْ أَنفُسِهِمْ يَتْلُوا عَلَيْهِمْ ءَايَٰتِهِۦ

၁၆၄။ အလ္လာဟ် အရှင်မြတ်သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သောသူတို့ထံသို့ ထိုသူတို့၏အ(မျိုးအစား)ထဲမှပင် အကြင် ရစူလ်တမန်တော်တပါးကို စေလွှတ်တော်မူခြင်းအားဖြင့် မုချ ယင်းသူတို့အပေါ် (မဟာ)ကျေးဇူးတော်ကို ပြုတော်မူခဲ့ချေပြီ။

---

➤➤ တစ်ယောက် ဖြစ်ပါမူ တမန်တော်မြတ်အဘို့ မည်သူတစ်ဦးတစ်ယောက်ကိုမျှ အကြောင်းကြားခြင်းမရှိဘဲ ယူငင်သုံးစွဲပိုင်ခွင့် ရှိသည်ဟူသော ထင်မှားချက်ဖြင့် ပြောဆိုမိခြင်းဖြစ်ပေမည်)။

ထိမ်ချိန်လျှို့ဝှက်ခြင်းသည် ကြီးလေးသော ဒုစရိုက်မှုဖြစ်၏။ တမန်တော်များမှာမူကား မှုပြစ်ကြီးငယ် ဒုစရိုက်အသွယ်သွယ်တို့မှ လုံးဝကင်းစင်ကြကုန်၏။ သို့ဖြစ်ပေရာ တမန်တော်များအဘို့ ထိမ်ချန်လျှို့ဝှက်မှုသည် အသို့လျှင် ဖြစ်နိုင်အံ့နည်း။

(၁) အလ္လာဟ်အရှင်မြတ်၏ နှစ်မြို့တော်မူခြင်းကို လိုက်နာသောသူကား ဥပမာ – နဗီတမန်တော်များ။

(၂) အလ္လာဟ်အရှင်မြတ်၏ အမျက်တော်စူးရှခြင်းခံရ၍ ငရဲလားမည့်သူကား ဥပမာ – အလွဲသုံးစားပြုသူများ။

(၃) အလ္လာဟ်အရှင်မြတ်၏ နှစ်မြို့တော်မူခြင်းကို လိုက်နာသော သူတော်စင်များနှင့် အလ္လာဟ်အရှင်မြတ်၏ အမျက်တော်စူးရှခြင်းခံရ၍ ငရဲလားသော သူယုတ်မာတို့သည် ထိုအရှင်မြတ်၏ အထံတော်၌ အဆင့်အတန်း တမျိုးတစားတည်းမဟုတ်ပေ။ အထူးပင်ခြားနားလျက်ရှိကြပေသည်။

وَيُزَكِّيهِمْ وَيُعَلِّمُهُمُ الْكِتَٰبَ وَالْحِكْمَةَ وَإِن كَانُوا۟ مِن قَبْلُ لَفِى ضَلَٰلٍ مُّبِينٍ ﴿١٦٤﴾

ထို ရစူလ်တမန်တော်သည် ယင်းသူတို့ ရှေ့မှောက်ဝယ် အလ္လာဟ်အရှင်မြတ်၏ ဒေသနာ တော်များကိုလည်း ဖတ်ကြားလေသည်။ ထိုသူတို့အား (ပြစ်မှုဒုစရိုက်အပေါင်းတို့မှ) သန့်စင်အောင်လည်း ပြုချေသည်။ ၎င်းပြင် ယင်းသူတို့အား (အလ္လာဟ် အရှင်မြတ်၏) ကျမ်းဂန်တော်ကိုင်း၊ ထူးသော ဉာဏ်အမြော်အမြင်ကိုင်း၊ သွန်သင်ပြသ သင်ကြား ပို့ချလေသည်။

အမှန်စင်စစ် ၎င်းတို့သည် (ထိုရစူလ် တမန် တော် မပွင့်မီ) အလျင်က ထင်ရှားလှစွာသော လမ်း လွဲမှု၌ပင် မုချဧကန် ရှိနေခဲ့ကြကုန်၏။

أَوَلَمَّآ أَصَٰبَتْكُم مُّصِيبَةٌ قَدْ أَصَبْتُم مِّثْلَيْهَا قُلْتُمْ أَنَّىٰ هَٰذَا ۖ قُلْ هُوَ مِنْ عِندِ أَنفُسِكُمْ ۗ إِنَّ ٱللَّهَ عَلَىٰ كُلِّ شَىْءٍ قَدِيرٌ ﴿١٦٥﴾

**၁၆၅**။ တဖန် (အုဟုဒ် စစ်မြေပြင်ဝယ်) အသင်တို့၌ အတိဒုက္ခသည် ဆိုက်ရောက်ခဲ့လေသည်။ အသင် တို့သည် *ယင်းအတိဒုက္ခ၏ နှစ်ဆမျှသော အတိဒုက္ခ များကိုမူ (ရန်သူတို့၌) စင်စစ်ဧကန် ဆိုက်ရောက် စေခဲ့ကြပြီးဖြစ်၏။* [၁] (သို့အတိဒုက္ခဆိုက်ရောက်သော အခါ) အသင်တို့က ဤ (ဒုက္ခ) သည် (ကျွန်ုပ်တို့၌) *အဘယ်မှ ဆိုက်ရောက်ပါသနည်းဟု (ညည်းညူ) ပြောဆိုခဲ့ကြလေသည်။* [၂]

---

① 'အုဟုဒ်' စစ်ပွဲတွင် မွတ်စ်လင်မ်တို့သည် နှစ်နာဆုံးရှုံးခဲ့ကြ၏။ စစ်သည်တော် ၇၀-ကျဆုံးခဲ့ကြရ၏။ 'ဗဒ်ရ်' စစ်ပွဲတွင် ကာဖိရ်တို့သည် ဆုံးရှုံးခဲ့ကြ၏။ စစ်သည် ၇၀-ကျဆုံး၍ စစ်သည် ၇၀-တိတိပင် စစ်သုံ့ပန်းအဖြစ် အဖမ်းခံခဲ့ကြ၏။ အဆိုပါ စစ်ပွဲ ၂-ပွဲတွင် နှစ်ဦးနှစ်ဖက်၏ ဆုံးရှုံးမှုကို ဆန်းစစ်ကြည့်လျှင် ကာဖိရ်တို့၏ ဆုံးရှုံးမှုမှာ မွတ်စ်လင်မ်တို့၏ ဆုံးရှုံးမှု၏ နှစ်ဆဖြစ်ခဲ့ပေသည်။ ဤအကြောင်းကိုပင် ဤအာယသ်တော်တွင် မိန့်ဆိုထားတော်မူသည်။

② အုဟုဒ်စစ်ပွဲတွင် မွတ်စ်လင်မ်တို့စစ်ရေးနိမ့်ခဲ့ကြသည့်အခါ အချို့မွတ်စ်လင်မ်များက "ငါတို့သည် 'မုအ်မင်န်' များဖြစ်ကြ၏။ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်သော စစ်သည်တော်များဖြစ်ကြ၏။ ငါတို့တွင် အလ္လာဟ်အရှင်မြတ်၏ တမန်တော်လည်း ရှိတော်မူ၏။ ရန်သူများမှာ 'မွရှ်ရစ်က်' များ ဖြစ်ကြ၏။ သို့ ဖြစ်ပါလျက် ငါတို့သည် အဘယ်ကြောင့် စစ်ရေး နိမ့်ကြရသနည်း။ ဤ ဒုက္ခသည် အဘယ်မှ ➤➤

(အို-နဗီတမန်တော် စင်စစ်) ယင်းဒုက္ခသည် အသင်တို့ထံမှပင် (ဆိုက်ရောက်ခြင်း) ဖြစ်သည်ဟု ပြောကြားပါလေ။ မုချဧကန် အလ္လာဟ် အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို တတ်စွမ်းနိုင်တော်မူသော အနန္တတန်ခိုးတော်ရှင်ဖြစ်တော်မူပေသည်။

وَمَآ اَصَابَكُمۡ يَوۡمَ الۡتَقَى الۡجَمۡعٰنِ فَبِاِذۡنِ اللّٰهِ وَلِيَعۡلَمَ الۡمُؤۡمِنِيۡنَ ﴿١٦٦﴾

**၁၆၆။** ၎င်းပြင် (အုဟုဒ်စစ်မြေပြင်ဝယ်) လူစုနှစ်စုတို့သည် တစ်စုနှင့်တစ်စု ရင်ဆိုင်ကြသောနေ့တွင် အသင်တို့၌ ဆိုက်ရောက်ခဲ့သော ဆင်းရဲဒုက္ခသည် အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်ဖြင့် (ဆိုက်ရောက်သောဆင်းရဲဒုက္ခပင်)ဖြစ်ပေသည်။ (ယင်းသို့ ဆိုက်ရောက်ခြင်းသည်ကား) အလ္လာဟ် အရှင်မြတ်သည် "မုအ်မင်န်" ယုံကြည်သူတို့အား သိရှိတော်မူခြင်းငှာ ဖြစ်ပေသည်။

وَلِيَعۡلَمَ الَّذِيۡنَ نَافَقُوۡا ۖۚ وَقِيۡلَ لَهُمۡ تَعَالَوۡا قَاتِلُوۡا فِىۡ سَبِيۡلِ اللّٰهِ اَوِ ادۡفَعُوۡا ؕ قَالُوۡا لَوۡ نَعۡلَمُ قِتَالًا لَّا تَّبَعۡنٰكُمۡ ؕ هُمۡ لِلۡكُفۡرِ يَوۡمَئِذٍ اَقۡرَبُ

**၁၆၇။** ထိုနည်းတူစွာ (ယင်းကဲ့သို့ ဆင်းရဲဒုက္ခ ဆိုက်ရောက်ခြင်းမှာ) ထိုအရှင်မြတ်သည် မွတ်စ်လင်မ် ယောင်ဆောင်သော သူတို့ကို သိရှိတော်မူခြင်းငှာ ဖြစ်ချေသည်။ စင်စစ် ထို (မွတ်စ်လင်မ်ယောင်ဆောင်သော)သူတို့အား "(ဟယ်-အချင်းတို့) အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ တရားလမ်းတော်၌ လာရောက်တိုက်ခိုက်ကြ လေကုန်။ သို့တည်းမဟုတ် ခုခံကြလေကုန်" ဟု ပြောဆိုသောအခါ

➤➤ လာသနည်း" ဟု အချင်းချင်း ပြောဆိုကြလေသည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်က "ဤဒုက္ခသည် အသင်တို့ထံမှပင် ဖြစ်သည်" ဟု တမန်တော်မြတ်အား ဖြေကြားစေတော်မူလေသည်။ အုဟုဒ် စစ်ပွဲတွင် မွတ်စ်လင်မ်တို့ စစ်ရေးရှုံးနိမ့်ခဲ့ကြရသည့်အကြောင်းမှာ တမန်တော်မြတ်၏ အမိန့်တော်ကို မနာခံကြခြင်းကြောင့်ပင် ဖြစ်ပေရာ 'မည်သူမပြု မိမိမှု' ဆိုသကဲ့သို့ မွတ်စ်လင်မ်တို့သည် မိမိတို့၏ မနာခံမှုကြောင့် မိမိတို့၏ စစ်ရေးနိမ့်မှုကို မိမိကိုယ်တိုင်ပင် ဖန်တီးရာ ရောက်နေပေသည်။ မာဂျိဒီ။

مِنْهُمْ لِلْإِيمَانِ ۚ يَقُولُونَ بِأَفْوَاهِهِم مَّا لَيْسَ فِي قُلُوبِهِمْ ۗ وَاللَّهُ أَعْلَمُ بِمَا يَكْتُمُونَ ﴿١٦٧﴾

ထိုသူတို့က "အကယ်၍သာ (စံနစ်ကျသော) စစ်ပွဲဟု ကျွန်ုပ်တို့ယူဆခဲ့ပါလျှင် ဧကန်မလွဲ အသင်တို့နှင့် အတူ လိုက်ခဲ့ကြမည်" ဟု *ဖြေဆိုကြကုန်သည်။* [၁]

ထိုသူတို့သည် (ယင်းကဲ့သို့ ဖြေဆိုသော) နေ့တွင် "အီမာန်" ယုံကြည်ခြင်းဘက်ထက် "ကုဖ်ရ်" *ငြင်းပယ်ခြင်း ဘက်သို့ ပို၍ နီးကပ်သူများ ဖြစ်ခဲ့ကြကုန်၏။* [၂] ထိုသူတို့သည် မိမိတို့ စိတ်နှလုံး၌ မရှိသော အကြောင်းအရာများကို မိမိတို့ နှုတ်များဖြင့် ပြောဆိုကြလေသည်။ သို့ရာတွင်မူကား အလ္လာဟ် အရှင်မြတ်သည် ထိုသူတို့ ထိမ်ချန်လျှို့ဝှက် ကြကုန်သောအကြောင်းအရာများကို အကြွင်းမဲ့ သိရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူလေသည်။

---

(၁) 'အုဟုဒ်' စစ်မြေပြင်တွင် ကာဖိရ်တို့ကို ခုခံတိုက်ခိုက်ရန်အတွက် မွတ်စ်လင်မ်စစ်သည်တော်များ မဒီနာမြို့မှ ထွက်လာကြသည့်အခါ မုနာဖစ်က်တို့၏ အကြီးအကဲဖြစ်သူ အဗ်ဒုလ္လာဟ် အီဗ်နုအုဗိုင်ယ်သည် မိမိအကြံ မထမြောက်သည့်အတွက် မိမိ၏ ဘက်တော်သား ၃၀၀ တို့အား ခေါ်ဆောင်၍ မြို့တွင်းသို့ပြန်သွားလေသည်။ ထိုအခါ မွတ်စ်လင်မ်များက ထိုမုနာဖစ်က်တို့အား အသင်တို့သည် ငါတို့နှင့် အတူလိုက်ပါ၍ အလ္လာဟ် အရှင်မြတ်၏ တရားလမ်းတော်၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ကြကုန်။ သို့မဟုတ် အသင်တို့ ခုခံကြကုန်။ (တနည်း အသင်တို့သည် မြို့တွင်းမှ ခုခံကြကုန်။ တနည်းအသင်တို့သည် မြို့စောင့်တပ်များဖြစ်ကြကုန်။ တနည်း လူဦးရေများပြားအောင် ပြုလုပ်၍ ဟန့်တားကြကုန်) ဟု ပြောဆိုကြလေသည်။

ထိုအခါ မုနာဖစ်က်တို့က ဤစစ်ပွဲသည် စနစ်ကျသောစစ်ပွဲမဟုတ်။ မိမိတို့ကိုယ်ကို မိမိတို့ ကိုယ်တိုင် သတ်သေခြင်းသည်သာလျှင်ဖြစ်၏။ အဘယ်ကြောင့်ဆိုသော် ရန်သူများသည် မွတ်စ်လင်မ်တို့၏ ၄-ဆဖြစ်ကြ၏။ လက်နက်အင်အားလည်းသာကြ၏။ ဤအခြေအနေမျိုးတွင် မြို့ပြင်သို့ထွက်၍ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းသည် စစ်ဥပဒေနှင့် လုံးဝဆန့်ကျင်သည်။ အကယ်၍ ဤစစ်ပွဲသည် စနစ်ကျသောစစ်ပွဲဖြစ်သည်ဟု ကျွန်ုပ်တို့ယူဆပါလျှင် ကျွန်ုပ်တို့သည် အသင်တို့နောက်သို့ မုချလိုက်ကြပါမည်ဟု ပြောဆိုကြလေသည်။ (ဤကဲ့သို့ ပြောဆိုခြင်းသည်လည်း ပရိယာယ်ဖြင့် ပြောဆိုခြင်းမျှသာလျှင် ဖြစ်ချေသည်)။ မာဂျိဒီ။

(၂) မုနာဖစ်က်တို့၌ "အီမာန်"ယုံကြည်မှုကားအလျှင်းမရှိချေ။ ထိုသူတို့သည် မွတ်စ်လင်မ်အယောင်ဆောင်နေသူများသာဖြစ်ကြသည်။ ထိုသူတို့သည် မွတ်စ်လင်မ်အယောင်ဆောင်နေခဲ့ကြသော်လည်း အထက်တွင်ဖော်ပြခဲ့သည့်အတိုင်း မပြောသင့်မပြောအပ်သောစကားများကို ထုတ်ဖော်ပြောဆို လိုက်ကြသည့်နေ့တွင်မူ ထိုသူတို့သည် အမြင်အားဖြင့်လည်း ကုဖ်ရ်နှင့် ပိုမိုနီးစပ်သွားကြလေသည်။

ٱلَّذِينَ قَالُوا۟ لِإِخْوَٰنِهِمْ وَقَعَدُوا۟ لَوْ أَطَاعُونَا مَا قُتِلُوا۟ ۗ قُلْ فَٱدْرَءُوا۟ عَنْ أَنفُسِكُمُ ٱلْمَوْتَ إِن كُنتُمْ صَٰدِقِينَ ﴿١٦٨﴾

**၁၆၈။** ထိုသူတို့သည် (စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်စဉ်က) ကိုယ်တိုင် (မိမိတို့အိမ်များတွင်) ထိုင်နေခဲ့ကြပါလျက် (အုဟုဒ် စစ်မြေပြင်၌ ကျဆုံးခဲ့သော) မိမိတို့၏ *ညီသားအစ်ကိုများနှင့်* [၁] ပတ်သက်ပြီး "အကယ်၍သာ ထိုသူတို့သည် ကျွန်ုပ်တို့(ပြောစကား)ကို နာယူခဲ့ကြပါမူ (ယင်းကဲ့သို့) သတ်ဖြတ်ခြင်း ခံကြရမည် မဟုတ်ပေတကား" ဟု ပြောဆို (ဝေဘန်) ကြကုန်သည်။

(အို-နဗီတမန်တော်) အသင်သည် (ထိုသူတို့အား) "သို့ဖြစ်လျှင် အကယ်၍သာ အသင်တို့သည် မှန်ကန်စွာ ပြောဆိုသူများဖြစ်ခဲ့ကြပါလျှင် မိမိတို့ကိုယ်မှ 'မရဏ' သေခြင်းတရားကို ဖယ်ရှားကြပါလေကုန်" ဟု ပြောဆိုဖြေကြားပါလေ။

وَلَا تَحْسَبَنَّ ٱلَّذِينَ قُتِلُوا۟ فِى سَبِيلِ ٱللَّهِ أَمْوَٰتًۢا ۚ بَلْ أَحْيَآءٌ عِندَ رَبِّهِمْ يُرْزَقُونَ ﴿١٦٩﴾

**၁၆၉။** ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် အလ္လာဟ်အရှင်မြတ်၏ တရားလမ်းတော်၌ (စစ်တိုက်စဉ်)အသတ်ခံရသော သူတို့ကို *သူသေများ ဟူ၍ အလျှင်း မထင်မှတ်ပါလေနှင့်။* [၂]

(ထိုသူတို့ကား သူသေများ) အလျှင်းမဟုတ်၊ စင်စစ်မှာမူကား ထိုသူများသည် ၎င်းတို့၏ အရှင်မြတ် အထံတော်ဝယ် အသက်ရှင်နေသော သူများပင်ဖြစ်ကြသည့်ပြင် (အလ္လာဟ်အရှင်မြတ်၏) ကျွေးမွေးတော် မူခြင်းကိုလည်း ခံကြရကုန်၏။

---

(၁) ဤဝါကျတွင် ညီနောင်များဟူသည် သာသနာရေးနှင့် အယူဝါဒကို အကြောင်းပြုပြီး တော်စပ်သော ညီနောင်များကို ဆိုသည်မဟုတ်။ မျိုးနွယ်နှင့် တိုင်းပြည်ကို အကြောင်းပြုပြီး တော်စပ်သော ညီနောင်များကို ဆိုလိုသည်။ မာဂျိဒီ။

(၂) အလ္လာဟ်အရှင်မြတ်၏ တရားလမ်းတော်၌ စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ရင်း ကျဆုံးသွားကြကုန်သော 'ရှဟီဒ်' အစ္စလာမ် သာသနာ့အာဇာနည်များသည် အခြားသေသူများကဲ့သို့ သူသေများ မဟုတ်ကြပေ။ ➤➤

فَرِحِيْنَ بِمَآ اٰتٰىهُمُ اللّٰهُ مِنْ فَضْلِهٖ ۙ وَيَسْتَبْشِرُوْنَ بِالَّذِيْنَ لَمْ يَلْحَقُوْا بِهِمْ مِّنْ خَلْفِهِمْ ۙ اَلَّا خَوْفٌ عَلَيْهِمْ وَلَا هُمْ يَحْزَنُوْنَ ﴿١٧٠﴾

၁၇၀။ ထိုသူတို့သည် ၎င်းတို့အား အလ္လာဟ်အရှင်မြတ်က မိမိ စည်းစိမ်ချမ်းသာ အကျိုးကျေးဇူးတော်ကို ခြီးမြှင့် ပေးသနားတော်မူသောကြောင့် နှစ်ထောင်းအားရ၊ ရွှင်လန်းလျက်ရှိကြသည်သာမက မိမိတို့နောက်၌ (ကျန်ရစ်ခဲ့သော) မိမိတို့နှင့် လာရောက်တွေ့ဆုံပူးပေါင်းခြင်း မရှိကြသေးသော သူတို့နှင့်ပတ်သက်၍လည်း ဝမ်းမြောက်ဝမ်းသာ ပျော်ရွှင်ကြကုန်သည်။ အကြောင်းတမူကား ထို (ကျန်ရစ်ခဲ့သော) သူတို့အဘို့မှာလည်း (မိမိတို့ထံ ရောက်ရှိလာကြသောအခါ) မည်သို့မျှ စိုးရိမ်ကြောင့်ကြခြင်းသည်၎င်း၊ ဝမ်းနည်းပူးဆွေးခြင်းသည်၎င်း မရှိခြင်းကြောင့်ပင်တည်း။

يَسْتَبْشِرُوْنَ بِنِعْمَةٍ مِّنَ اللّٰهِ وَفَضْلٍ ۙ وَّاَنَّ اللّٰهَ لَا يُضِيْعُ اَجْرَ الْمُؤْمِنِيْنَ ﴿١٧١﴾

၁၇၁။ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်ထံတော်မှ စည်းစိမ်ချမ်းသာ အကျိုးကျေးဇူးတော်များ(ခံစားရသော)ကြောင့်၎င်း၊ ထိုနည်းတူစွာ (အလ္လာဟ်အရှင်မြတ်၏) ရက်ရောစွာ *ပေးသနားတော်မူခြင်း* [၁] (ကိုရရှိသော) ကြောင့်၎င်း၊ ဧကန်မုချ အလ္လာဟ်အရှင်မြတ်သည် "မုအ်မင်န်" ယုံကြည်သောသူတို့၏ အကျိုးကို ဖြုန်းတီးတော်မူမည် မဟုတ်သောကြောင့်၎င်း၊ *ဝမ်းမြောက်ဝမ်းသာ ရှိကြကုန်၏။* [၂]

---

➤➤ ထိုအာဇာနည်များသည် 'အာလမုလ်ဗရ်ဇခ်' ၌ ထူးခြားသော ရှင်ခြင်းမျိုးဖြင့် အသက်ရှင်လျက်ရှိကြကုန်၏။ 'အာလမုလ်ဗရ်ဇခ်' နှင့် လျော်ကန်သော ရိက္ခာများကိုလည်း စားသုံးလျက်ရှိကြကုန်၏။ မိမိတို့၏ အရှင်မြတ်အထံတော်၌လည်း ဂုဏ်သရေရှိသူများ ဖြစ်ကြကုန်၏။

(၁) 'ဖဿွလ်' ဟူသည် ရသင့်ရထိုက်သည်ထက်ပင် ပိုမိုပေးကမ်းခြင်းကိုဆိုသည်။

(၂) အလ္လာဟ်အရှင်မြတ်၏ တရားလမ်းတော်၌ ကျဆုံးသွားခဲ့ကြကုန်သော သာသနာ့အာဇာနည်များသည် မိမိတို့နောက် မိမိတို့နှင့်လာရောက်တွေ့ဆုံပူးပေါင်းကြမည့် သာသနာ့အာဇာနည်များနှင့်စပ်လျဉ်း၍ ထိုအာဇာနည်များသည်လည်း မိမိတို့ကဲ့သို့ပင် စိုးရိမ်မှု၊ ပူဆွေးမှုတို့နှင့် ကင်းဝေးကြရမည်ကို သိနှင့်ကြသဖြင့် ယခုကပင် ဝမ်းသာလျက် ရှိကြကုန်သည်။

ٱلَّذِينَ ٱسْتَجَابُوا۟ لِلَّهِ وَٱلرَّسُولِ مِنۢ بَعْدِ مَآ أَصَابَهُمُ ٱلْقَرْحُ ۚ لِلَّذِينَ أَحْسَنُوا۟ مِنْهُمْ وَٱتَّقَوْا۟ أَجْرٌ عَظِيمٌ ١٧٢

၁၇၂။ အကြင်သူတို့သည် (အုဟုဒ် စစ်မြေပြင်၌) ဒဏ်ရာဒဏ်ချက်များ ရရှိပြီးနောက်တွင် အလ္လာဟ် အရှင်မြတ်နှင့်ရစူလ်တမန်တော်၏ ဖိတ်ခေါ်ချက်ကို လက်ခံနာယူခဲ့ကြကုန်သည်။

ထိုသူတို့အနက်မှ ကောင်းမြတ်သော အကျင့်အမူတို့ကို ကျင့်မူသည့်အပြင် (ပြစ်မှုဒုစရိုက်တို့မှလည်း) ကြဉ်ရှောင်ကြကုန်သော သူတို့အဘို့မှာကား အလ္လာဟ်အရှင်မြတ်အထံတော်၌ ထူးမြတ်ကြီးကျယ်လှသော အကျိုးဆုလာဘ်သည် အသင့်ရှိပေသည်။

ٱلَّذِينَ قَالَ لَهُمُ ٱلنَّاسُ إِنَّ ٱلنَّاسَ قَدْ جَمَعُوا۟ لَكُمْ فَٱخْشَوْهُمْ فَزَادَهُمْ إِيمَٰنًا وَقَالُوا۟ حَسْبُنَا ٱللَّهُ وَنِعْمَ ٱلْوَكِيلُ ١٧٣

၁၇၃။ ထို(သူတော်စင်)များကား ၎င်းတို့အား အချို့သူများက "ဧကန် စင်စစ် ရန်သူတို့သည် အသင်တို့နှင့် ပြိုင်ဆိုင် (တိုက်ခိုက်)ကြရန်အလို့ငှါ (စစ်မက်ပစ္စည်း အားလုံးတို့ကို) မချွတ်ဧကန် စုဆောင်းထားရှိ ကြပြီး ဖြစ်လေသည်။ သို့ဖြစ်ရကား အသင်တို့သည် ယင်း သူတို့အား ကြောက်ရွံ့ (တိမ်းရှောင်)ကြလေကုန်" ဟု ပြောဆိုလေသည်။ သို့တစေလည်း ၎င်းတို့၏ ပြောဆိုမှုသည် (တစုံတရာ စိုးရိမ်ကြောင့်ကြစေခြင်း မရှိစေသည့်အပြင်) ထိုသူ(တော်စင်) တို့၏ "အီမာန်" သက်ဝင်ယုံကြည်မှုကို တိုးတက်ပွားများ စေခဲ့လေသည်။ ယင်း(သူတော်စင်)တို့ကမူ (ကြောက်ရွံ့စိုးရိမ်ကြမည့်အစား) ပြန်လည်ဖြေကြားကြသည်မှာ "အလ္လာဟ် အရှင်မြတ်သည် အကျွန်ုပ်တို့ (မှီခို အားထားရန်) အလို့ငှါ လုံလောက်တော်မူပေသည်။ ၎င်းပြင် ထို အရှင်မြတ်သည် ယုံပုံအားထားရာ အကောင်းဆုံး အရှင်မြတ်ပင် ဖြစ်တော် မူပေသည်" ဟု တုံ့ပြန် ဖြေကြားခဲ့ကြကုန်သတည်း။

فَانْقَلَبُوا بِنِعْمَةٍ مِّنَ اللّٰهِ وَفَضْلٍ لَّمْ يَمْسَسْهُمْ سُوْٓءٌ وَّاتَّبَعُوْا رِضْوَانَ اللّٰهِ ۗ وَاللّٰهُ ذُوْ فَضْلٍ عَظِيْمٍ ﴿١٧٤﴾

၁၇၄။ သို့ဖြစ်ပေရာ ယင်းသူတို့သည် (ယုံကြည်စိတ်ချစွာဖြင့် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန် ထွက်ခဲ့ကြပြီးနောက်) မည်သည့် အန္တရာယ်မျှ ထိရောက်ခြင်းမျှ မရှိဘဲ အလ္လာဟ်အရှင်မြတ် အထံတော်မှ (ပေးသနားတော်မူသော) စည်းစိမ်ချမ်းသာများအပြင် အထူး ကျေးဇူးတော်နှင့်တကွ (မိမိတို့အိမ်များသို့) ပြန်ခဲ့ကြကုန်သည်။ စင်စစ်တမူကား ထိုသူတို့သည် အလ္လာဟ် အရှင်မြတ်၏ နှစ်သက်မှုကို လိုက်နာပြုလုပ်ခဲ့ကြကုန်၏။ အလ္လာဟ်အရှင်မြတ်သည်လည်း *အတိုင်းမရှိ ကြီးကျယ်လှစွာသော ကျေးဇူးတော်ရှင် ဖြစ်တော်မူပေသည်။* [၁]

---

(၁) **ဖော်ပြချက်။**

ကုရ်အာန်ကျမ်းမြတ် (၃း၁၇၁-၁၇၄) ကို ထုတ်ပြန်ပို့ချတော်မူခြင်း အကြောင်းရင်းနှင့် စပ်လျဉ်း၍ မုဖတ်စ်စီရီန် အဋ္ဌကထာရှင်များသည် အဆိုပြားလျက်ရှိကြ၏။ ဤတွင် အဆို ၂-ရပ်ကို ရေးသားဖော်ပြပါအံ့။

အထက်တွင် အုဟုဒ်စစ်ပွဲအကြောင်း ဖော်ပြပြီးစီးခဲ့လေပြီ။ ယခုဤအာယသ်တော်များတွင် ထိုစစ်ပွဲနှင့် ဆက်စပ်လျက်ရှိသော "ဟမ်ရာအုလ်အစဒ်" စစ်ပွဲအကြောင်းကို မိန့်ဆိုထားတော်မူ၏။ အုဟုဒ်စစ်မြေပြင်မှ ကာဖိရ်စစ်သည်များ ပြန်လည်ဆုတ်ခွာ၍ လမ်းခုလတ်သို့ရောက်ကြသောအခါ ဝမ်းနည်းစွာဖြင့် "ငါတို့သည် အောင်နိုင်ကြပါလျက် အကြောင်းမဲ့ စစ်မြေပြင်မှ ပြန်လာကြသည်။ သို့ဖြစ်ပေရာ ငါတို့သည် ယခုပြန်လည်သွားရောက်ပြီး မွတ်စ်လင်မ်တို့အား ချေမှုန်းကြစို့" ဟု ပြောဆိုကြလေသည်။

ထိုအခါ အလ္လာဟ်အရှင်မြတ်သည် ထိုကာဖိရ်တို့၏ စိတ်နှလုံးတွင် ကြောက်စိတ်ထည့်သွင်းပေးတော်မူလိုက်ရာ ကာဖိရ်များသည် မက္ကာမြို့သို့ ပြန်ကြလေသည်။ သို့ရာတွင် ကာဖိရ်များက အချို့ခရီးသည်များအား တနည်းတဖုံ မွတ်စ်လင်မ်တို့ကို ခြောက်လှန့်ရန် မှာသွားကြလေသည်။ ဤအခြင်းအရာကို တမန်တော်မြတ်သည် 'ဝဟီ' အမိန့်တော်ဖြင့် သိတော်မူသောအခါ "ဟမ်ရာအုလ်အစဒ်" အမည်ရှိသောဌာနအထိ စစ်ချီ၍ ကြွသွားတော်မူလေသည်။ တမန်တော်မြတ်သည် ထိုဌာနတွင် သုံးရက်တိုင်တိုင် စားခန်းချ၍ နေတော်မူခဲ့လေသည်။

ကာဖိရ်များသည် မက္ကာမြို့သို့ အပြန် 'ရောင်ဟာ' ၌ မွတ်စ်လင်မ်တို့ စားခန်းဘက်မှ ထွက်ခွာလာသော မအ်ဗဒ်ခုဇာအီကို တွေ့ကြသဖြင့် မွတ်စ်လင်မ်တို့၏ အခြေအနေကို မေးမြန်းကြရာ မအ်ဗဒ်ခုဇာအီက (ထိုအချိန်တွင် ထိုပုဂ္ဂိုလ်သည် မွတ်စ်လင်မ်မဖြစ်သေးချေ။ တမန်တော်မြတ်အား ချစ်မြတ်နိုးသူတစ်ဦးသာ ဖြစ်ချေသည်) "မွတ်စ်လင်မ်တို့သည် စစ်အင်အားကြီးမားစွာဖြင့် ချီတက်လာနေကြသည်" ဟု ပြောပြလေရာ ကာဖိရ်စစ်သည်များသည် လုံးဝ စိတ်အားလျော့၍ ယခင်က မိမိတို့၌ မက္ကာမြို့သို့ပြန်ရန် စိတ်ဆန္ဒရှိကြသည့်အတိုင်း မက္ကာမြို့သို့ပင် ထုတ်ချောက် ပြန်ခဲ့ကြလေသည်။



➤➤ ကာဖိရ်တို့သည် မက္ကာမြို့တော်သို့ အပြန်လမ်း၌ မဒီနာမြို့သို့ သွားလျက်ရှိသော အဗ်ဒုလ်ကိုင်စ် မျိုးနွယ်မှ ကုန်သည်များနှင့် ရုတ်တရက် တွေ့ကြပြန်ကာ ကာဖိရ်များက ထိုကုန်သည်များအား အသင်တို့သည် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)နှင့် တွေ့ပြီး သူ၏ နောက်လိုက် တပည့်သားတို့ကို ငါတို့အား ကြောက်လန့်စေရန် ငါတို့သည် မွတ်စ်လင်မ်တို့အား ချေမှုန်းရန်အတွက် စစ်အင်အားအမြောက်အမြား စုဆောင်းထားကြောင်းနှင့် မကြာမီအတွင်း လာရောက်တိုက်ခိုက် ချေမှုန်းကြမည့်အကြောင်းများကို ဝါဒဖြန့်ပြောကြားကြပါဟု မှာကြားလိုက်လေသည်။

သို့မှာကြားလိုက်သည့်အတိုင်း ထိုကုန်သည်များက ကာဖိရ်တို့ မှာကြားလိုက်သော စကားများကို မွတ်စ်လင်မ်တို့အား ပြောကြားကြသောအခါ မွတ်စ်လင်မ် စစ်သည်တော်များက ဖွဲ့သတ္တိရှိရှိဖြင့် တညီတညွတ်တည်း "အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့အဘို့ လုံလောက်တော်မူပေသည်။ ထိုအရှင်မြတ်သည် အကောင်းဆုံး စီမံပေးတော်မူသော အရှင်မြတ်လည်း ဖြစ်တော်မူပေသည်" ဟု ပြန်လည်ဖြေကြားကြလေသည်။ ထို့နောက် မွတ်စ်လင်မ်များသည် အေးချမ်းသာယာစွာ မဒီနာမြို့သို့ ပြန်သွားကြလေသည်။

မွတ်စ်လင်မ်တို့သည် ထိုဌာနတွင် အချို့ကုန်သည်များနှင့် ရုတ်တရက် ရောင်တခင် တွေ့ကြရာ တမန်တော်မြတ်သည် ထိုကုန်သည်များထံမှ ကုန်ပစ္စည်းများကို ဝယ်ယူပြီး ရောင်းချ၏။ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်အဟုန်ဖြင့် အမြတ်အစွန်း အများအပြားရရှိပေရာ တမန်တော်မြတ်သည် ထိုအမြတ်အစွန်းများကို မိမိနှင့်အတူ ပါလာကြကုန်သော စစ်သည်တော်များအား ခွဲဝေပေးတော်မူလေသည်။

အချို့ မုဖတ်စ်စီရီန် အဋ္ဌကထာရှင်များက ဤအာယသ်တော်များသည် "ဗဒ်ရ်ဆုဃ်ရာ" စစ်ပွဲနှင့် သက်ဆိုင်သည်ဟု ဆိုကြ၏။ ထိုစစ်ပွဲအကြောင်း အကျဉ်းချုပ်မှာ အုဟုဒ်စစ်မြေပြင်မှ အပြန်တွင် ကာဖိရ်များက နောက်နှစ် ဗဒ်ရ်စစ်မြေပြင်တွင် စစ်ပွဲဆင်နွှဲကြမည်ဟု ကြေညာခဲ့ရာ တမန်တော်မြတ်ကလည်း ထိုကြေညာချက်ကို လက်ခံတော်မူလိုက်၏။

သို့ရာတွင် ကြေညာထားခဲ့သည့်အတိုင်း စစ်ပွဲဆင်နွှဲရန် အချိန်ကျရောက်သည့်အခါ ကာဖိရ်တို့သည် အချို့အဆိုအရ "မဂျန္နဟ်" အထိ အချို့အဆိုအရ "အတ်စ်ဖ်ာန်" အထိ ချီတက်လာကြ၏။ ထိုအခါ အလ္လာဟ် အရှင်မြတ်သည် ထိုသူတို့၏ စိတ်နှလုံးများတွင် ကြောက်စိတ် ထည့်သွင်းပေးတော်မူသဖြင့် ကြောက်လန့်ပြီး မိုးလေဝသခေါင်းပါးသည်ကို အကြောင်းပြ၍ ထိုဌာနမှပင် ပြန်လည်သွားကြလေသည်။

ကာဖိရ်တို့သည် နအီမ်ဗ်ကူဖ်နမတ်စ်အူဒ်အရှ်ဂျအီ အား ဆုလာဒ်ပေးပြီး မွတ်စ်လင်မ်တို့အား သွားရောက် ခြိမ်းခြောက်ရန် လွှတ်လိုက်ကြ၏။ ဤသို့ပြုလုပ်ခြင်းမှာ မွတ်စ်လင်မ်တို့သည် ကြောက်လန့်ပြီး စစ်မြေပြင်သို့ မလာရောက်ခဲ့ပါလျှင် မွတ်စ်လင်မ်တို့အား ကတိပျက်ကွက်သည်ဟု စွပ်စွဲပြောဆိုကြရန်ပင် ဖြစ်သည်။

ယင်းကဲ့သို့ ကာဖိရ်တို့က လူလွှတ်၍ မွတ်စ်လင်မ်တို့အား ခြိမ်းခြောက်သော်လည်း မွတ်စ်လင်မ် စစ်သည်တော်များသည် ချိန်းချက်ထားသည့်အတိုင်း အချိန်မှီ ဗဒ်ရ် စစ်မြေပြင်သို့ ချီတက်လာခဲ့ကြ၏။ ကာဖိရ်တို့ကား မလာဝံ့ခဲ့ကြပေ။

ထိုစစ်ပွဲတွင် ကာဖိရ်တို့ မလာရောက်ကြသည့်အတွက် ပြိုင်ဆိုင်တိုက်ခိုက်မှု မဖြစ်ခဲ့ပေ။ ဗဒ်ရ်တွင် အရောင်းအဝယ်ဖြစ်သဖြင့် မွတ်စ်လင်မ်တို့သည် အရောင်းအဝယ်ပြုလုပ်ကြရာ အမြတ်အစွန်း အများအပြား ရရှိကြပြီး ခလုတ်မထိ ဆူးမညိဘဲ အေးချမ်းသာယာစွာ မဒီနာမြို့သို့ ပြန်လည်သွားခဲ့ကြလေသည်။

ဖော်ပြပါ အဆို ၂-ရပ်အနက် မောင်လာနာ ထာနဝီသခင်သည် ပဌမအဆိုကို ပိုမိုနှစ်ခြိုက်လေသည်။

ကြည့် - ထာနဝီ။ အလ်မနာရ်။

إِنَّمَا ذَٰلِكُمُ الشَّيْطَٰنُ يُخَوِّفُ أَوْلِيَآءَهُۥ فَلَا تَخَافُوهُمْ وَخَافُونِ إِن كُنتُم مُّؤْمِنِينَ ﴿١٧٥﴾

**၁၇၅။** ဤသည် *ရှိုင်တွာန်မျှသာတည်း။* ⁽¹⁾ ထို ရှိုင်တွာန်သည် (အသင်တို့ထံ ယင်းကဲ့သို့ မဟုတ်မမှန် သောသတင်းများကို ပို့ဆောင်ခြင်းအားဖြင့်) အသင် တို့အား မိမိ အဆွေခင်ပွန်းတို့ကို ကြောက်ရွံ့ စေလေသည်။ (တနည်း) မိမိအဆွေခင်ပွန်းတို့ကို ခြိမ်းခြောက်လေသည်။ သို့သော်လည်း အကယ်၍ အသင်တို့သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သူများ ဖြစ်ကြပါလျှင် ယင်းသူတို့အား မကြောက်မရွံ့ဘဲ ငါအရှင်မြတ်ကိုသာ ကြောက်ရွံ့ကြလေကုန်။

وَلَا يَحْزُنكَ الَّذِينَ يُسَارِعُونَ فِي الْكُفْرِ ۚ إِنَّهُمْ لَن يَضُرُّوا اللَّهَ شَيْـًٔا ۗ يُرِيدُ اللَّهُ أَلَّا يَجْعَلَ لَهُمْ حَظًّا فِي الْآخِرَةِ ۖ وَلَهُمْ عَذَابٌ عَظِيمٌ ﴿١٧٦﴾

**၁၇၆။** ထို့ပြင်တဝ (အို-နဗီတမန်တော်) သွေဖည် ငြင်းပယ်မှု၌ လျှင်မြန်စွာ ကျဆင်းသောသူတို့သည် အသင့်အား စိတ်ဒုက္ခ(ရောက်စေသောအကြောင်း) မဖြစ်စေရ။ အမှန်စင်စစ် ထိုသူတို့သည် အလ္လာဟ် အရှင်မြတ်အား အနည်းငယ်မျှပင် အကျိုးယုတ် နစ်နာစေခြင်းကို အလျင်းပြုစွမ်းနိုင်ကြမည်မဟုတ်ပေ။

အလ္လာဟ် အရှင်မြတ်သည် ထိုသူတို့အတို့ နောင်တမလွန်ဘဝတွင် (မိမိ၏ စည်းစိမ်ချမ်းသာ အကျိုး ကျေးဇူးတော်များအနက်မှ) မည်သည့် ဝေစုဝေပုံကိုမျှ ပေးသနားတော်မူရန် ရည်စူးတော် မမူချေ။ ၎င်းပြင် ထိုသူတို့အတို့ (နောင်တမလွန် ဘဝတွင်) အလွန်ကြီးလေးသော အပြစ်ဒဏ်သည် လည်း (အသင့်)ရှိပေသည်။

---

⁽¹⁾ ဤအာယသ်တော်တွင် ပါရှိသော 'ရှိုင်တွာန်' ဟူသော စကားသည် လူရှိုင်တွာန်ကို ဆိုလိုသည်ဟူ၍၎င်း။ ဂျင်န် ရှိုင်တွာန်ကို ဆိုလိုသည်ဟူ၍၎င်း အသီးသီး အဆိုရှိကြ၏။ အထက်ပါအဆို ၂-ရပ်အနက် ထိုရှိုင်တွာန်မှာ လူရှိုင်တွာန်ဖြစ်သည်ဟု ယူဆပါမှု ထိုရှိုင်တွာန်ကား အသူနည်း။ အချို့က လူရှိုင်တွာန်မှာ အဗူစုဖ်ယာန်ကို ဆိုလိုသည်ဟူ၍၎င်း၊ အချို့က အဗူစုဖ်ယာန် စေလွှတ်လိုက်သော နအီမ်အီဗ်နုမတ်စ်အူဒ်ကို ဆိုလိုသည်ဟူ၍၎င်း၊ အချို့ကမူ အဗ်ဒုလ်ကိုက်စ် မျိုးနွယ်၏ ကုန်သည်များကို ဆိုလိုသည်ဟူ၍၎င်း အသီးသီးဆိုကြပြန်သည်။
ကြည့် - အလ်မနာရ်။

إِنَّ الَّذِينَ اشْتَرَوُا الْكُفْرَ بِالْإِيمَانِ لَن يَضُرُّوا اللَّهَ شَيْئًا ۖ وَلَهُمْ عَذَابٌ أَلِيمٌ ١٧٧

**၁၇၇။** ကေန်မလွဲ "အီမာန်" ယုံကြည်ခြင်း သဒ္ဓါတရား(တည်းဟူသော ရတနာ)ဖြင့် သွေဖည် ငြင်းပယ်မှုကို လဲလှယ်ဝယ်ယူကြကုန်သော သူတို့သည် အလ္လာဟ် အရှင်မြတ်အား အနည်းငယ်မျှ အကျိုးယုတ်နစ်နာစေခြင်းကို အလျင်းပြုစွမ်းနိုင်ကြမည် မဟုတ်ချေ။

အမှန် စင်စစ်သော်ကား ယင်းသူတို့ အဘို့ (နောင်တမလွန် ဘဝတွင်) အလွန် နာကျင်ဘွယ်ဖြစ်သောအပြစ်ဒဏ်သည် (အသင့်) ရှိချေသတည်း။

وَلَا يَحْسَبَنَّ الَّذِينَ كَفَرُوا أَنَّمَا نُمْلِي لَهُمْ خَيْرٌ لِّأَنفُسِهِمْ ۚ إِنَّمَا نُمْلِي لَهُمْ لِيَزْدَادُوا إِثْمًا ۚ وَلَهُمْ عَذَابٌ مُّهِينٌ ١٧٨

**၁၇၈။** ထိုမှတပါးတုံ သွေဖည် ငြင်းပယ်ကြကုန်သောသူတို့သည် မိမိတို့အား ငါအရှင်မြတ်က (အပြစ်ဒဏ်ပေးတော်မူခြင်းမှ) ဆိုင်ငံ့ထားတော် မူသည်ကို မိမိတို့အဘို့ ကောင်းမြတ်လှပေသည်ဟု အလျင်း မထင်မှတ်ကြချေ။

ငါ အရှင်မြတ်သည် ယင်းသူတို့အား (အပြစ်ဒဏ် ပေးတော်မူခြင်းမှ) ဆိုင်းငံ့ထားတော်မူသည်မှာ စင်စစ် ယင်းသူတို့သည် အပြစ်ဒုစရိုက်မှုများ၌ ပိုမို တိုးပွားစိမ့်သောငှာသာလျှင် ဖြစ်ချေသည်။

တဖန် (နောင်တမလွန်ဘဝတွင်လည်း) ထိုသူတို့အဘို့ ဂုဏ်အသရေပျက်စေသော အပြစ်ဒဏ်သည် (အသင့်ပြင်ဆင်ပြီး) ရှိပေသတည်း။

مَّا كَانَ اللَّهُ لِيَذَرَ الْمُؤْمِنِينَ عَلَىٰ مَا أَنتُمْ عَلَيْهِ حَتَّىٰ يَمِيزَ

**၁၇၉။** အလ္လာဟ်အရှင်မြတ်သည် မသန့်စင်သောသူ (မုနာဖစ်က်)ကို သန့်စင်သောသူ (မွတ်စ်လင်မ်အစစ်အမှန်)နှင့် ခွဲခြားတော် မမူဘဲ "မုအ်မင်န်" သက်ဝင်ယုံကြည်သော သူအပေါင်းတို့အား (ယနေ့)

الْخَبِيْثَ مِنَ الطَّيِّبِ ۗ وَمَا كَانَ اللّٰهُ لِيُطْلِعَكُمْ عَلَى الْغَيْبِ وَلٰكِنَّ اللّٰهَ يَجْتَبِىْ مِنْ رُّسُلِهٖ مَنْ يَّشَآءُ ۖ فَاٰمِنُوْا بِاللّٰهِ وَرُسُلِهٖ ۚ وَاِنْ تُؤْمِنُوْا وَتَتَّقُوْا فَلَكُمْ اَجْرٌ عَظِيْمٌ ﴿۱۷۹﴾

အသင်တို့ ("မွတ်စ်လင်မ်" အစစ်နှင့် "မုနာဖစ်က်" အယောင်ဆောင် "မွတ်စ်လင်မ်" တို့သည် ရောနှော *လျက်ရှိသော) အခြေအနေမျိုးတွင် လွှတ်ထားတော်မူမည်မဟုတ်ပေ။* [၁]

ထိုနည်းတူစွာ အလ္လာဟ် အရှင်မြတ်သည် (အယောင်ဆောင် "မွတ်စ်လင်မ်" တို့၏ အမည်နာမတို့ကို ထုတ်ဖော် ပြသတော် မူခြင်းအားဖြင့်) အသင်တို့အား *မျက်ကွယ်၌ရှိသော အကြောင်းအရာများနှင့်စပ်လျဉ်း၍ အသိပေးတော်မူမည်လည်း မဟုတ်ပေ။* [၂] သို့ရာတွင်မူကား အလ္လာဟ်အရှင်မြတ်သည် (ယင်းကဲ့သို့သော အကြောင်းကိစ္စများအတွက်) မိမိ၏ ရစူလ်တမန်တော်များအနက်မှ အလိုရှိတော်မူသော ရစူလ်တမန်တော်အား ရွေးချယ်(တော်မူ၍ ထုတ်ဖော်ပြသရန် လိုအပ်သော အကြောင်းအရာများကိုသာ ထုတ်ဖော် မိန့်ကြား)တော်မူလေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ ရစူလ်တမန်တော် (အပေါင်း) တို့ကို ယုံကြည်ကြလေကုန်။

---

(၁) မွတ်စ်လင်မ်တို့အထဲတွင် မုနာဖစ်က်တို့သည် ရောနှောလျက်ရှိကြ၏။ ဤကဲ့သို့ မွတ်စ်လင်မ်နှင့် မုနာဖစ်က်တို့ အရောရော အနှောနှော ဖြစ်နေသည်ကို အလ္လာဟ်အရှင်မြတ်သည် လိုလားတော်မမူချေ။

အလ္လာဟ် အရှင်မြတ်သည် ဝဟီဖြင့် အသိပေးတော် မူခြင်းအားဖြင့်၎င်း၊ ကြီးလေးသော ဒုက္ခဆင်းရဲမှုများကို သက်ရောက်စေခြင်းအားဖြင့်၎င်း၊ မွတ်စ်လင်မ်နှင့် မုနာဖစ်က်၊ သူကောင်းနှင့် သူယုတ်၊ အမှန်နှင့် အမှားကို ခွဲခြားပေးတော်မူလေသည်။

(၂) 'ဃိုက်ဗ်' မျက်ကွယ်၌ရှိသော အရာများကို အလ္လာဟ်အရှင်မြတ် တပါးတည်းသာလျှင် သိတော်မူ၏။ အခြားမည်သူတစ်ဦးတစ်ယောက်မျှ မသိနိုင်စွမ်းပေ။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် အကြောင်းအားလျော်စွာ မိမိ၏ တမန်တော်များအနက် အလိုတော်ရှိသော အချို့တမန်တော်များအား မျက်ကွယ်၌ရှိသော အရာများအနက် လိုအပ်သော အချို့အရာများကိုမူ အသိပေးတော်မူလေသည်။ ဤအချက်ကို အထောက်အထားပြု၍ အချို့တမန်တော်များသည် 'ဃိုက်ဗ်' မျက်ကွယ်၌ ရှိသောအရာများကို သိကြသည်ဟူ၍ မထင်မှားအပ်ပေ။ အဘယ့်ကြောင့်ဆိုသော် (၁) မျက်ကွယ်၌ရှိသော အရာများနှင့် စပ်လျဉ်း၍ အချို့တမန်တော်များ၏ ➢➢

တဖန် အကယ်၍သာ အသင်တို့သည် ယုံကြည်ခြင်း သဒ္ဒါတရားထားရှိ၍ (ပြစ်မှု ဒုစရိုက်တို့မှ) ကြဉ်ရှောင်ကြပါမူ (နောင်တမလွန်ဘဝတွင်) အသင်တို့အဘို့ ကြီးကျယ်လှစွာသော အကျိုးဆုလာဘ်သည် (အသင့်) ရှိလတ္တံ့။

وَلَا يَحْسَبَنَّ الَّذِيْنَ يَبْخَلُوْنَ بِمَآ اٰتٰىهُمُ اللّٰهُ مِنْ فَضْلِهٖ هُوَ خَيْرًا لَّهُمْ ۭ بَلْ هُوَ شَرٌّ لَّهُمْ ۭ سَيُطَوَّقُوْنَ

**၁၈၀။** ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် မိမိကျေးဇူးတော်ဖြင့် ရက်ရောစွာ ပေးသနားတော်မူသော ဥစ္စာပစ္စည်းနှင့် စပ်လျဉ်း၍ စစ်စီစေးနဲကြကုန်သော သူတို့သည် (ယင်းကဲ့သို့) စစ်စီစေးနဲခြင်းသည် မိမိတို့အဘို့ *ကောင်းမြတ်သည်ဟူ၍* မထင်မှတ်ကြရာချေ။ [၁] စင်စစ်မူကား (ယင်းကဲ့သို့) စစ်စီစေးနဲခြင်းသည် ထိုသူတို့အဘို့ ဆိုးရွားလှပေသည်။

---

➤➤ သိခြင်းမှာ မိမိတို့ အလိုအလျောက် သိကြခြင်းမဟုတ်၊ 'ဝဟီ' အလ္လာဟ် အရှင်မြတ်၏ အသိပေးတော်မူခြင်းဖြင့်သာလျှင် ဖြစ်ချေသည်။ (၂) တမန်တော်များသည် မျက်ကွယ်၌ ရှိသောအရာအားလုံးကို သိကြသည်မဟုတ်ကြပေ။ အလ္လာဟ်အရှင်မြတ် အသိပေးတော်မူသမျှ အချို့ကိစ္စများကိုသာလျှင် သိနိုင်ကြပေသည်။ အလ္လာဟ်အရှင်မြတ်မှာကား ခပ်သိမ်းကုန်သော အရာအားလုံးကို မိမိအလိုအလျောက် အကြွင်းမဲ့ သိရှိတော်မူသည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ် (၆း ၅၀။ ၇း ၁၈၈။ ၁၁း ၃၁။ ၅း ၁၀၆၊၁၁၆။ ၆း ၅၆။ ၁၃း ၉။ ၂၃း ၉၂။ ၂၇း ၆၅။ ၃၂း ၆။ ၃၅း ၃၈။ ၃၉း ၄၆။ ၄၉း ၁၈။ ၅၉း ၂၂။ ၆၄း ၁၈။ ၇၂း ၂၆) ကို လေ့လာ ဆင်ခြင်ကြပါကုန်။

(၁) ဤအာယသ်တော်သည် မုချပေးဆောင်ရမည်ဟု ဖရည်ဖြုလုပ်ထားသော ဇကားတ်တရားဝင် ဒါနကြေးမပေးသော သူများနှင့် စပ်လျဉ်း၍ ထုတ်ပြန်ပို့ချသော အာယသ်တော်ဖြစ်သည်။ (ဗဟ်ရ်) (ထာနဝီ)။

စစ်စီးစေးနဲသော သူများနှင့် ဇကားတ်မပေးသောသူများ၏ လည်ပင်း၌ ထိုသူတို့၏ ဥစ္စာပစ္စည်းများသည် မြွေဖြစ်၍ ပတ်ရစ်လိမ့်မည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ တမန်တော်မြတ်က ဤကဲ့သို့ မိန့်ကြားတော်မူခဲ့သည်။

အကြင်သူတစ်ဦးသည် မိမိဥစ္စာပစ္စည်းထဲမှ ဇကားတ်မပေးအံ့။ အလ္လာဟ်အရှင်မြတ်သည် ကိယာမတ်နေ့တွင် ထိုသူ၏ဥစ္စာပစ္စည်းကို မြွေဖြစ်စေ၍ ထိုသူ၏ လည်ပင်း၌ ရစ်ပတ်စေတော်မူအံ့။

အလ္လာဟ်အရှင်မြတ်သည် အကြင်သူအားဥစ္စာပစ္စည်းပေးကမ်းတော်မူ၏။ ထိုသူသည် မိမိဥစ္စာပစ္စည်းထဲမှ ဇကားတ်မပေးသည်ရှိသော် ကိယာမတ်နေ့တွင် ထိုသူ၏ဥစ္စာပစ္စည်းသည်အကွက် ၂-ခုပါသော အဆိပ်အတောက်အလွန်ပြင်းထန်သောမြွေဆိုးကြီးဖြစ်၍ ထိုသူအားရစ်ပတ်ပြီး ထိုသူ၏ပါးသွယ်ရိုး ၂-ချောင်းကို ကိုက်ခဲအံ့။ ၎င်းနောက်ထိုမြွေကငါသည်အသင်သိုလှောင်ထားခဲ့သောဥစ္စာပစ္စည်းဖြစ်သည်ဟုပြောလတ္တံ့။(ဗုခါရီ)

مَا بَخِلُوْا بِهٖ يَوْمَ الْقِيٰمَةِ ۗ وَ لِلّٰهِ مِيْرَاثُ السَّمٰوٰتِ وَالْاَرْضِ ۗ وَاللّٰهُ بِمَا تَعْمَلُوْنَ خَبِيْرٌ ﴿١٨٠﴾

(အဘယ်ကြောင့်ဟူမူ) ထိုသူတို့သည် မုချ ရှင်ပြန်ထမည့်နေ့တွင် မိမိတို့ စစ်စီစေးနဲ(သိုမှီး စုဆောင်း) ခဲ့ကြကုန်သော ဉစ္စာပစ္စည်းများဖြင့် လည်ပင်း၌ ကွင်းစွပ်ခြင်းကို ခံကြရမည် (ဖြစ်သော ကြောင့်တည်း)။ အမှန်သော်ကား ကောင်းကင်ဘုံ များ၌ရှင်း၊ ပထဝီမြေပြင်၌ရှင်း၊ ရှိရှိသမျှသော အမွေပစ္စည်း အစုစုတို့သည် အလ္လာဟ် အရှင်မြတ် အဘို့သာ *ဖြစ်သည်။* [၁] အမှန် စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည် အသင်တို့ ပြုလုပ်ကြ ကုန်သော ကိစ္စအရပ်ရပ်တို့ကို အကြွင်းမဲ့ ကြားသိ တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

لَقَدْ سَمِعَ اللّٰهُ قَوْلَ الَّذِيْنَ قَالُوْٓا اِنَّ اللّٰهَ فَقِيْرٌ وَّنَحْنُ اَغْنِيَآءُ ۘ سَنَكْتُبُ مَا قَالُوْا وَقَتْلَهُمُ الْاَنْۢبِيَآءَ بِغَيْرِ حَقٍّ ۙ وَّنَقُوْلُ ذُوْقُوْا عَذَابَ الْحَرِيْقِ ﴿١٨١﴾

**၁၈၁။** အလ္လာဟ်အရှင်မြတ်သည် အကြင်သူတို့၏ ပြောဆိုသောစကားကို ဧကန်စင်စစ် ကြားတော်မူခဲ့ လေပြီ။ ထိုသူတို့က "အလ္လာဟ်အရှင်မြတ်သည် ဧကန်မလွဲ ဆင်းရဲတော်မူသော အရှင်မြတ် ဖြစ်တော် မူ၏။ သို့ရာတွင် အကျွန်ုပ်တို့မူကား ပစ္စည်းဉစ္စာ ကုံလုံကြွယ်ဝ ပေါများသူများပင် ဖြစ်ကုန်၏" ဟု ပြောဆိုခဲ့ကြ လေသည်။ (သို့ ပြောဆိုကြသည်ကို ကြားတော် မူသည့်အတိုင်း) ငါ အရှင်မြတ်သည် ထိုသူတို့၏ ပြောဆိုချက်နှင့်တကွ နဗီတမန်တော် များအား မည်သည့်အခွင့်အလမ်းမျှ မရှိဘဲလျက် (သက်သက်မတရားသဖြင့်) ထိုသူတို့၏ သတ်ဖြတ် ခြင်းကိုပါ မုချအမှန် ရေးမှတ်တော်မူအံ့။

---

(၁) အချို့လူသားတို့သည် မိမိတို့အားအလ္လာဟ်အရှင်မြတ်က ခေတ္တခဏအပ်နှံထားတော်မူသော ဉစ္စာပစ္စည်း များကိုပင် ငါ့မြေငါ့ယာငါ့လယ်ယာဟုထင်မှတ်ပြောဆိုနေကြ၏။ အမှန်သော်ကား မိုးမြေနှင့်တကွ ရှိရှိသမျှသော အရာခပ်သိမ်းတို့ကို အလ္လာဟ်အရှင်မြတ်သည်သာလျှင် ပိုင်ဆိုင်တော်မူသည်။ သို့ဖြစ်ပေရာ လူသားတို့သည် အလ္လာဟ်အရှင်မြတ်အပ်နှင်းထားတော်မူသော ဉစ္စာပစ္စည်းများကို ထိုအရှင်မြတ်၏ တရားလမ်းတော်၌ သဒ္ဓါ ကြည်ဖြူစွာပေးကမ်းလှူဒါန်းရန်သာရှိသည်။ စေးနဲတွန့်တိုရန်ကား အလျှင်းအကြောင်းမရှိပေ။

တဖန် ငါအရှင်မြတ်သည် (ထိုသူတို့အား ကိယာမတ် ခေါ် ရှင်ပြန်ထမည့်နေ့တွင်) "အသင်တို့သည် ဟုန်းဟုန်းတောက်သော ငရဲမီး (တည်းဟူသော) အပြစ်ဒဏ်၏ အရသာကို မြည်းစမ်းကြလေကုန်" ဟု မိန့်ကြားတော်မူလတ္တံ့။

ذٰلِكَ بِمَا قَدَّمَتْ اَيْدِيْكُمْ وَاَنَّ اللّٰهَ لَيْسَ بِظَلَّامٍ لِّلْعَبِيْدِ ﴿١٨٢﴾

**၁၈၂။** ဤ(ကဲ့သို့ ပြစ်ဒဏ်ခံကြရမည်မှာ)ကား အသင်တို့ (ကိုယ်တိုင်) မိမိတို့လက်များဖြင့် ကြိုတင်ပို့နှင့်ပြီးဖြစ်သော အကုသိုလ် ဒုစရိုက်များကြောင့်ပင်တည်း။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် (မိမိ) ကျွန်များအပေါ် မတရား ဖိစီးညှဉ်းပန်းနှိပ်စက်တော်မူသော အရှင်မဟုတ်ပေ။

اَلَّذِيْنَ قَالُوْٓا اِنَّ اللّٰهَ عَهِدَ اِلَيْنَآ اَلَّا نُؤْمِنَ لِرَسُوْلٍ حَتّٰى يَاْتِيَنَا بِقُرْبَانٍ تَاْكُلُهُ النَّارُ ۗ قُلْ قَدْ جَآءَكُمْ رُسُلٌ مِّنْ قَبْلِيْ بِالْبَيِّنٰتِ وَبِالَّذِيْ قُلْتُمْ فَلِمَ قَتَلْتُمُوْهُمْ اِنْ كُنْتُمْ صٰدِقِيْنَ ﴿١٨٣﴾

**၁၈၃။** (ထိုယဟူဒီများသည် အကြင်သူများပင် ဖြစ်ကြကုန်၏။) ထိုသူတို့က "အကျွန်ုပ်တို့သည် မည်သည့် တမန်တော်တပါးကိုမျှ (ကောင်းကင်မှ) မီးစားသော အလှူဝတ္ထု တစ်စုံတရာကို ထိုတမန်တော်သည် အကျွန်ုပ်ထံ မယူဆောင်လာသမျှ ကာလပတ်လုံး မယုံကြည်ကြရန် အလ္လာဟ် အရှင်မြတ်က အကျွန်ုပ်တို့အား မုချ အမိန့်တော် ချမှတ်ထားတော်မူခဲ့လေသည်" ဟု (မဟုတ်မမှန် လုပ်ကြံ) ပြောဆိုကြကုန်သည်။

(သို့ဖြစ်၍ အို- နဗီတမန်တော် အသင်သည် ထိုသူတို့အား "ဟယ်-အချင်းတို့) အသင်တို့သည် အကယ်၍သာ "သစ္စာဝါဒီ" မှန်ကန်စွာ ပြောဆိုသူများဖြစ်ကြပါမူ အကျွန်ုပ်၏အလျင် မြောက်မြားစွာသော ရစူလ်တမန်တော်များသည် (အမျိုးမျိုးသော) တန်ခိုးပြာဋိဟာများနှင့်တကွ အသင်တို့ပြောဆိုသော အချက်ကိုပါ ယူဆောင် ကြွရောက်လာခဲ့ချေပြီ။

သို့ဖြစ်ပါလျက် အသင်တို့သည် အဘယ်ကြောင့် ထိုရစူလ်တမန်တော်များကို သတ်ဖြတ်ခဲ့ကြပါသနည်း" ဟု ပြောဆို မေးမြန်းပါလေ။

فَإِنْ كَذَّبُوكَ فَقَدْ كُذِّبَ رُسُلٌ مِّن قَبْلِكَ جَآءُو بِالْبَيِّنَٰتِ وَالزُّبُرِ وَالْكِتَٰبِ الْمُنِيرِ ﴿١٨٤﴾

**၁၈၄။** (အို- နဗီတမန်တော်) အကယ်၍ ထို ("ကာဖိရ်" ငြင်းပယ်သော)သူတို့သည် အသင့်အား မုသားပြောဆိုသူဟူ၍ စွပ်စွဲပြောဆိုကြပါမူ (သို့စွပ်စွဲပြောဆိုခြင်းကား မထူးဆန်းလှပေ။ အကြောင်းဟူမူ) အသင်၏အလျင် *ထင်ရှားစွာသော တန်ခိုးပြာဋိဟာ သက်သေသာကေများကိုငှ်း၊* [၁] *ကျမ်းငယ် (အစောင်စောင်)များကိုငှ်း၊* [၂] *ထွန်းလင်းတောက်ပသော ကျမ်းကြီးများကိုငှ်း၊* [၃] ယူဆောင်လာခဲ့ကြကုန်သော ရစူလ်တမန်တော်များသည်ပင်လျှင် မုသားပြောဆိုသူများဟူ၍ စွပ်စွဲပြောဆိုခြင်းကိုခံခဲ့ကြရလေသတည်း။

كُلُّ نَفْسٍ ذَآئِقَةُ الْمَوْتِ ۗ وَإِنَّمَا تُوَفَّوْنَ أُجُورَكُمْ يَوْمَ الْقِيَٰمَةِ ۖ فَمَن زُحْزِحَ عَنِ النَّارِ وَأُدْخِلَ الْجَنَّةَ فَقَدْ فَازَ ۗ وَمَا الْحَيَوٰةُ الدُّنْيَآ إِلَّا مَتَٰعُ

**၁၈၅။** သက်ရှိသတ္တဝါတိုင်းသည် "မရဏ" သေခြင်းတရား၏ရသာကို မြည်းစမ်းကြရမည်။ တဖန် အသင်တို့သည် "ကိယာမတ်" ခေါ် (သေပြီးနောက်)ရှင်ပြန်ထရမည့်နေ့၌သာလျှင် မိမိတို့၏(ကောင်းမှုမကောင်းမှုတို့၏)အကျိုးများကို အပြည့်အစုံပေးခြင်းခံကြရပေမည်။ သို့ဖြစ်ပေရာ အကြင်သူသည် ငရဲမီးဘေးမှ ဖယ်ရှားခြင်းခံရ၍ "ဂျန္နတ်" အမတ သုခဘုံသို့ ဝင်ရောက်စေခြင်းကို ခံရအံ့။ သို့ဖြစ်ရာ ထိုသူသာလျှင် စင်စစ်ဧကန် အောင်မြင်သောသူ ဖြစ်ပေသည်။

(၁) 'အလ်ဗိုင်ယိနာတ်' ဟူသောစကားတွင် အသိဉာဏ်နှင့် ယှဉ်၍ သိစေနိုင်သော သက်သေ သာကေများ တန်ခိုးပြာဋိဟာများသည် အကျုံးဝင်လျက်ရှိပေသည်။ ကြည့် - မာဂျိဒီ။ ကဗီရ်။

(၂) 'ဇုဗုရ်' ဟူသော ပုဒ်သည် 'ဇဗူရ်' ဟူသောပုဒ်၏ ဗဟုဝုစ်ကိန်းများဖြစ်သည်။ 'ဇုဗုရ်' ဟူသည် အဆုံးအမဩဝါဒများသာပါရှိသော ကျမ်းငယ်များကို ဆိုသည်။ ရာဃိဗ်။

(၃) 'အလ်ကိတာဗ်' ဟူသည် ကုရ်အာန်ကျမ်းမြတ်၏ ဝေါဟာရ အသုံးအနှုန်းတွင် အမိန့်ပညတ်များနှင့် ရှရီအတ် ပဋိပတ်ကျင့်စဉ်ကျင့်ရပ်များ ပါရှိသော ကျမ်းကြီးများကို ဆိုသည်။

الْغُرُورِ ﴿١٨٥﴾

အမှန်သော်ကား (နောင်တမလွန်ဘဝသည် သာလျှင် အမြဲခံစားရမည့် ဘဝဖြစ်၍ ဤပစ္စက္ခ မျက်မှောက်) လောကီဘဝသည်ကား *ထင်ယောင် ထင်မှားဖြစ်စေသောပစ္စည်းမျှသာ ဖြစ်ချေသည်။* [၁]

لَتُبْلَوُنَّ فِيٓ أَمْوَٰلِكُمْ وَأَنفُسِكُمْ وَلَتَسْمَعُنَّ مِنَ ٱلَّذِينَ أُوتُوا۟ ٱلْكِتَٰبَ مِن قَبْلِكُمْ وَمِنَ ٱلَّذِينَ أَشْرَكُوٓا۟ أَذًى كَثِيرًا ۚ وَإِن تَصْبِرُوا۟ وَتَتَّقُوا۟ فَإِنَّ ذَٰلِكَ مِنْ عَزْمِ ٱلْأُمُورِ ﴿١٨٦﴾

**၁၈၆။** စင်စစ် အသင်တို့သည် မိမိတို့၏ ဥစ္စာ ပစ္စည်းများနှင့်စပ်လျဉ်း၍၎င်း၊ မိမိတို့၏ အသက် ဇီဝိန်နှင့်စပ်လျဉ်း၍၎င်း၊ စမ်းသပ်ခြင်းကို အမှန်ပင် ခံကြကုန်အံ့။ ထိုမှတပါး‌တုံ ဧကန်မလွဲ အသင်တို့ သည် မိမိတို့အလျင် (အလ္လာဟ်အရှင်မြတ် အထံ တော်မှ) ဒေသနာတော် ကျမ်းဂန်ကို ချီးမြှင့် ပေးသနားတော်မူခြင်း ခံခဲ့ကြရသော သူတို့ထံမှ၎င်း၊ (အခြားအရာကို အလ္လာဟ်အရှင်မြတ်နှင့်) တွဲဘက် ယှဉ်ပြိုင် ကိုးကွယ်ခဲ့ကြကုန်သော သူတို့ထံမှ၎င်း စိတ်နှလုံးထိခိုက် နာကြည်းဖွယ်ရာများစွာကိုလည်း အမှန်စင်စစ် ကြားကြရပေမည်။

သို့ရာတွင်မူကား အသင်တို့သည် (ဘေးဒုက္ခ များနှင့် ရင်ဆိုင်ရာ၌) အကယ်၍သာ ခန္တီတရား ထားရှိကာ (အဓမ္မတည်းဟူသော မတရားမှု ခပ်သိမ်း တို့မှ) ကြဉ်ရှောင်ကြပါလျှင် ယင်း(ကဲ့သို့ သည်းခံ ခြင်းနှင့်မတရားမှုတို့မှ ကြဉ်ရှောင်ခြင်းတို့) သည် *စိတ်ဓာတ် ကြံ့ခိုင်စွာ ပြုမူရသောအရေးကိစ္စများ အနက်ပင်ဖြစ်သည်။* [၂]

---

(၁) "လောကီဘဝသည် ထင်ယောင်ထင်မှားဖြစ်စေသော ပစ္စည်းမျှသာဖြစ်ချေသည်" ဟူ၍ကုရ်အာန်ကျမ်းမြတ်တွင် မိန့်ဆိုထားတော်မူ၏။ ဤအမိန့်တော်နှင့်စပ်လျဉ်း၍ "စအီဒ်အီဗ်န ဂျုဗိုင်ရ်"က အောက်ပါအတိုင်း အနက်ဖွင့်ထားသည်။ ဤအမိန့်တော်သည် လောကီဘဝကို နောင်တမလွန်ဘဝထက် အသာပေးသူအဘို့ဖြစ်သည်။ သို့ရာတွင် ထိုလောကီဘဝဖြင့် နောင်တမလွန်ဘဝကို ဆည်းပူးသူအဘို့မှာကား ထိုလောကီဘဝသည် (လိုရာစခန်းသို့) ပို့ဆောင်ပေးသော ပစ္စည်းပင်ဖြစ်ချေသည်။

(၂) ဤ အာယသ်တော်သည် မွတ်စ်လင်မ် တို့ကို ရည်ညွှန်းတော်မူ၏။ အလ္လာဟ် အရှင်မြတ်သည် ➤➤

وَإِذْ أَخَذَ اللَّهُ مِيثَاقَ الَّذِينَ أُوتُوا الْكِتَابَ لَتُبَيِّنُنَّهُ لِلنَّاسِ وَلَا تَكْتُمُونَهُ فَنَبَذُوهُ وَرَاءَ ظُهُورِهِمْ وَاشْتَرَوْا بِهِ ثَمَنًا قَلِيلًا ۖ فَبِئْسَ مَا يَشْتَرُونَ ﴿١٨٧﴾

**၁၈၇။** ထို့ပြင်တဝ (အသင်တို့သည် ပြန်လည် အောက်မေ့ သတိရရှိကြလေကုန်) အခါတပါး၌ အလ္လာဟ် အရှင်မြတ်သည် (အသင်တို့ အလျင်) ကျမ်းဂန်ကို ချီးမြှင့် ပေးသနားတော်မူခြင်းခံကြရသောသူတို့၏ထံမှ ပဋိညာဉ်ဝန်ခံချက်ကို (ဤသို့) ယူတော်မူခဲ့လေသည်။ "မုချဧကန် အသင်တို့သည် ယင်းကျမ်းဂန်(လာ တရားဒေသနာတော်များ)ကို ထိမ်ချန်မထားကြဘဲ လူသားတို့ (သိစိမ့်သော)ငှာ အတိအကျ ထင်ရှားစေကြရမည်"။ (သို့ရာတွင်) ထိုသူတို့သည် သို့(ပဋိညာဉ် ဝန်ခံချက်ထားရှိခဲ့ကြ) ပါလျက်နှင့်ပင်၊ ယင်း ကျမ်းဂန်ကို မိမိတို့၏ ကျောနောက်သို့ ပစ်ထားခဲ့ကြ၏။ ၎င်းပြင် အနည်းငယ်မျှသော အဘိုးအခနှင့် ယင်းကျမ်းဂန်(လာ ဒေသနာတော်များ)ကို ရောင်းစားခဲ့ကြလေသည်။ သို့ဖြစ်ပေရာ ထိုသူတို့ လဲလှယ်ဝယ်ယူကြကုန်သော အဘိုးအခသည် အလွန်တရာမျှပင် ယုတ်ညံ့သိမ်ဖျင်းလှပေသည်တကား။

لَا تَحْسَبَنَّ الَّذِينَ يَفْرَحُونَ بِمَا أَتَوا وَّيُحِبُّونَ أَن

**၁၈၈။** (အို-နဗီတမန်တော်) အသင်သည် အလျင်းမထင်မှတ်လေနှင့်။ အကြင်သူတို့သည် မိမိတို့၏ (မဟုတ်မလျား) အကျင့်မှားဖြင့် အားရဝမ်းသာ မွေ့လျော်ပျော်ရွှင်လျက် ရှိကြကုန်၏။

➤➤ ဤအာယသ်တော်တွင် မွတ်စ်လင်မ်တို့သည် နောက်နောင်တွင်လည်း ဥစ္စာပစ္စည်းများနှင့် စပ်လျဉ်း၍၎င်း၊ အသက်ဇီဝိန်များနှင့် စပ်လျဉ်း၍၎င်း၊ အစမ်းသပ် ခံကြရမည့်အကြောင်း၊ အတိတ်ခေတ် ကျမ်းရသောသူများနှင့် မွရှ်ရစ်က်တို့၏ စိတ်နာကြည်းဖွယ် စကားများကိုလည်း ကြားကြရဦးမည့်အကြောင်း ဗျာဒိတ်စကား ဟောကြားတော်မူ၍ မွတ်စ်လင်မ်တို့သည် အဆိုပါ ဒုက္ခများနှင့် ရင်ဆိုင်ကြရသည့်အခါ ခန္တီတရား လက်ကိုင်ထားပြီး ဒုစရိုက်မှုများကို ကြဉ်ရှောင်ကြရမည့်အကြောင်း မိန့်ဆိုထားတော်မူလေသည်။

အထက်ပါ ဗျာဒိတ်တော်အရ အတိတ်ခေတ်များတွင် မွတ်စ်လင်မ်တို့သည် စမ်းသပ်မှု အမျိုးမျိုး ခံခဲ့ကြရ၏။ ရန်သူတို့ပြောဆိုသော စိတ်နာကြည်းဖွယ် စကားများကို ကြားခဲ့ကြရ၏။ ယခုမျက်မှောက် ပစ္စုပ္ပန်တွင်လည်း အစမ်းသပ်ခံကြရလျက် စိတ်နာကြည်းဖွယ်သော စကားများကို ကြားကြလျက်ပင် ရှိကြပေသည်။

يُّحْمَدُوْا بِمَا لَمْ يَفْعَلُوْا فَلَا تَحْسَبَنَّهُمْ بِمَفَازَةٍ مِّنَ الْعَذَابِ ۚ وَلَهُمْ عَذَابٌ اَلِيْمٌ ﴿١٨٨﴾

ငင်းပြင် ထိုသူတို့သည် မိမိတို့ မပြုခဲ့ကြသော (ကောင်းမှု) ကိစ္စနှင့်စပ်လျဉ်း၍ (လူအများ၏) ချီးမွမ်းခြင်းကို ခံလိုကြကုန်၏။ သို့ဖြစ်ပေရာ အသင်သည် ထိုသူတို့အား (ဤလောကတွင်လည်း) ပြစ်ဒဏ်မှ လွတ်မြောက်ကြမည်ဟူ၍ အလျှင်းမထင်မှတ်လေနှင့်။ ငင်းပြင် ထိုသူတို့အတွက် (နောင်တမလွန်ဘဝ၌လည်း) ပြင်းပြနာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်သည် (အသင့်) ရှိချေသတည်း။

وَلِلّٰهِ مُلْكُ السَّمٰوٰتِ وَالْاَرْضِ ۗ وَاللّٰهُ عَلٰى كُلِّ شَيْءٍ قَدِيْرٌ ﴿١٨٩﴾

**၁၈၉။** အမှန် စင်စစ်သော်ကား အာကာသ ကောင်းကင်များနှင့် ကမ္ဘာမြေကို စိုးမိုး အုပ်ချုပ်မှုသည် အလ္လာဟ် အရှင်မြတ်အတွက်သာဖြစ်သည်။ ငင်းပြင် အလ္လာဟ် အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်တော်မူနိုင်သော အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူပေသတည်း။ [၁]

اِنَّ فِيْ خَلْقِ السَّمٰوٰتِ وَالْاَرْضِ وَاخْتِلَافِ الَّيْلِ وَالنَّهَارِ لَاٰيٰتٍ لِّاُولِي الْاَلْبَابِ ﴿١٩٠﴾

**၁၉၀။** ဧကန်စင်စစ် အာကာသကောင်းကင်ဘုံများနှင့်ကမ္ဘာမြေကို ဖန်ဆင်းတော်မူရာ၌ လည်းကောင်း၊ နေ့နှင့်ညဉ့်တို့၏ ပြောင်းလဲမှု၌ လည်းကောင်း နိသမ္မ ဉာဏ်ရှင်များအတွက် (တစ်ဆူတည်းဖြစ်တော် မူသော အလ္လာဟ် အရှင်မြတ်အား ထင်ရှားသိစေနိုင်သော) *သက်သေသာဓကများ မုချ ရှိပေသည်။* [၂]

---

(၁) အလ္လာဟ်အရှင်မြတ်သည် စကြဝဠာအဝှန်းကို စိုးပိုင်တော်မူ၏။ အရာခပ်သိမ်းကိုလည်း စွမ်းဆောင်နိုင်တော်မူ၏။ ဤသည့်အချက်ကိုပင် အကြင်သူတစ်ဦးသည် နှလုံးသွင်းထားပါမူ ထိုသူသည် မည်သည့်ပြစ်မှုမျိုးကိုမျှ ကျူးလွန်ဝံ့မည်မဟုတ်ပေ။ ကြည့် - မာဂျိဒီ။

(၂) မိုး, မြေ, နေ, လ, နက္ခတ်တာရာ အစရှိသည့် ထူးထွေဆန်းကြယ်လှသော ကမ္ဘာ့တန်ဆာများသည် မိမိတို့အား ဖန်ဆင်းတော်မူသော ဘုန်းတော်အနန္တ၊ ဉာဏ်တော်အနန္တ၊ တန်ခိုးတော်အနန္တတို့နှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ် တပါးတည်း ရှိတော်မူကြောင်းကို သက်သေခံလျက်ရှိကြပေသည်။ အံ့မဆုံးသော ကမ္ဘာ့စက်ယန္တရားကြီးကို ကြည့်ရှုမျှော်မြင် ဆင်ခြင်ခြင်းအားဖြင့် နိသမ္မဉာဏ်ရှင် အပေါင်းတို့သည် အလ္လာဟ်အရှင်မြတ်၏ အနန္တတန်ခိုးတော်များကို ကောင်းစွာ သိရှိနိုင်ကြပေသည်။ ➤➤

الَّذِيْنَ يَذْكُرُوْنَ اللّٰهَ قِيٰمًا وَّقُعُوْدًا وَّعَلٰى جُنُوْبِهِمْ وَيَتَفَكَّرُوْنَ فِيْ خَلْقِ السَّمٰوٰتِ

၁၉၁။ အကြင် နိသမ္မဉာဏ်ရှင်များသည် အလ္လာဟ် အရှင်မြတ်အား မတ်တတ်ရပ်လျက်ငှင်း၊ ထိုင်လျက် လည်းကောင်း၊ လဲလျောင်းလျက် လည်းကောင်း (အခါခပ်သိမ်း) အောက်မေ့ တသ သတိရကြ၏။ ၎င်းပြင် ထိုသူတို့သည် အာကာသ ကောင်းကင် ဘုံများနှင့် ကမ္ဘာမြေကို ဖန်ဆင်းခြင်းနှင့် စပ်လျဉ်း၍ *စဉ်းစားဆင်ခြင်(ကာ ဤသို့လျှောက်ထား)ကြ၏။* ၁

➤➤ ကမ္ဘာတန်ဆာများ၏ များပြားပုံ၊ အနေအထားကျပုံ၊ သွားလာရွေ့လျားပုံ၊ အချင်းချင်းဆက်စပ်မှီတွယ်ပုံ၊ နေနှင့်လ ဝင်ထွက်ပုံ၊ လဆန်းလဆုတ်ဖြစ်ပုံ၊ ကမ္ဘာမြေကြီး၏ ပုံပန်းသဏ္ဌာန်၊ ထုထယ်အကျယ်အဝန်း၊ ဆွဲငင်ခြင်းသတ္တိ၊ ပေါက်ရောက်စေနိုင်ပုံ၊ မြေမှ ဓာတ်သတ္တုပစ္စည်းအမျိုးမျိုးထွက်ပုံ၊ သမုဒ္ဒရာပင်လယ်နက်ရှိုင်းပုံ၊ ကျယ်ပြန့်ပုံ၊ (ဒီရေ) ရေတက်ရေကျဖြစ်ပုံ၊ မိုးရွာသွန်းပုံ-စသည်များကား အံ့မဆုံးပင်ဖြစ်တော့၏။

ကမ္ဘာတန်ဆာများကို အကြောင်းပြု၍ Astronomy ကြယ် နက္ခတ်တာရာ အတတ်ပညာ၊ Cosmography စကြာဝဠာ အစိတ်အပိုင်း တစ်ခုနှင့်တစ်ခု ဆက်စပ်မှီတွယ်ကြောင်း ဖော်ပြရာပညာ၊ Geography ပထဝီ၊ Physics ရူပဗေဒ၊ Geology ဘူမိဗေဒ၊ အစရှိသော Science လောကဓာတ်ပညာ အမျိုးမျိုး ထွန်းကားလျက်ရှိပေသည်။ နောက်နောင် မည်ရွေ့မည်မျှ ထွန်းကားဦးမည်ကို မချင့်တွေးနိုင်ပေ။ ထိုထိုသော ပညာများ ထွန်းကားလာသည်နှင့်အမျှ အလ္လာဟ်အရှင်မြတ်၏ ထူးထွေဆန်းကြယ် လှသော အနန္တတန်ခိုးတော်များကို လူသားတို့သည် ပိုမို၍ သိလာကြပေမည်။

ထိုထိုသော အံ့ဘွယ် ကမ္ဘာတန်ဆာပလာများသည် အချို့သူတို့ ထင်မှတ်ကြသကဲ့သို့ ဆည်းကပ် ကိုးကွယ်ရာများ မဟုတ်ချေ။ လူသားတို့အကျိုးငှာ အလ္လာဟ်အရှင်မြတ် ပြုလုပ်စီရင်ထားတော်မူသော လူသားတို့၏ အသုံးအဆောင်များသာ ဖြစ်ချေသည်။

(၁) မိုး, မြေ, နေ, လ, နက္ခတ်တာရာ အစရှိသော ကမ္ဘာစက်ယန္တရားကြီး၏ သွားလာလှုပ်ရှားမှုများကို ဆင်ခြင်၍ အလ္လာဟ်အရှင်မြတ်၏ အနန္တတန်ခိုးတော်များကို မြော်မြင်ဆင်ခြင် နှလုံးသွင်းခြင်းသည်လည်း အလွန်မွန်မြတ်လှသော 'အိဗါဒတ်' ဝတ်ပြုမှုတစ်ရပ်ပင်ဖြစ်ပေသည်။

(နိသမ္မဉာဏ်ရှင်များသည်) အထောက်အထားပြုရန်ငှင်း၊ တရားယူရန်ငှင်း မိုးများနှင့် ကမ္ဘာမြေကြီးကို ဖန်ဆင်းခြင်းနှင့်စပ်လျဉ်း၍ တွေးခေါ်မြော်မြင် ဆင်ခြင်ကြ၏။ ယင်းကဲ့သို့ ဆင်ခြင်ခြင်းသည် အမြတ်ဆုံးသော ခဝပ်မှုပင်ဖြစ်သည်။ တမန်တော်မြတ်ကလည်း "ဆင်ခြင်ခြင်းနှင့်တူသော ခဝပ်မှုသည်မရှိချေ" ဟု မိန့်ကြားတော်မူခဲ့သည်။ အဘယ်ကြောင့်ဟူမူ ထိုဆင်ခြင်မှုသည် စိတ်နှလုံးနှင့်လည်း ဆိုင်၏။ ဖန်ဆင်းတော်မူခြင်း၏ အဓိက ရည်ရွယ်ချက်လည်းဖြစ်၏။

**ဖော်ပြချက်။**

တမန်တော်မြတ်သည် ညဉ့်အချိန် နိုးထသောအခါ တံပူဝါးလျက် အာကာသ ကောင်းကင်ဘက်သို့ ရှုမျှော်ကာ ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော် (၃း၁၈၉) ကို ရွတ်ဘတ်သရဇ္ဈာယ်လေ့ရှိ၏။

ဤအာယသ်တော်နှင့်စပ်လျဉ်း၍လည်း တမန်တော်မြတ်က အောက်ပါအတိုင်း မိန့်ကြားတော်မူခဲ့သည်။ ➤➤

وَالْاَرْضِ ۚ رَبَّنَا مَا خَلَقْتَ هٰذَا بَاطِلًا ۚ سُبْحٰنَكَ فَقِنَا عَذَابَ النَّارِ ﴿١٩١﴾

"အို-ကျွန်တော်မျိုးတို့၏ အရှင်၊ အရှင်မြတ်သည် ဤ *(ဖန်ဆင်းထားသောအရာများ)*ကို *အချည်းနှီး ဖန်ဆင်းထားတော် မူသည်မဟုတ်ပါ၊*[၁] အရှင်မြတ်သည် ချို့တဲ့ခြင်း အပေါင်းမှ ကင်းစင်တော် မူပါ၏။ သို့ဖြစ်ပါ၍ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ငရဲမီး၏ပြစ်ဒဏ်မှ ဖယ်ရှားတော်မူပါ။

رَبَّنَآ اِنَّكَ مَنْ تُدْخِلِ النَّارَ فَقَدْ اَخْزَيْتَهٗ ۭ وَمَا لِلظّٰلِمِيْنَ مِنْ اَنْصَارٍ ﴿١٩٢﴾

**၁၉၂။** အို-ကျွန်တော်မျိုးတို့၏ အရှင်၊ ဧကန်မုချ အရှင်မြတ်သည် အကြင်မည်သူ့ကိုမဆို ငရဲမီးထဲသို့ ထည့်သွင်းတော် မူပါလျှင် အရှင်မြတ်သည် ထိုသူအား မုချ ဂုဏ်ရည်သေးသိမ်အောင်ပြုတော်မူချေပြီ။ ၎င်းပြင် မတရားကျူးလွန်သောသူတို့အတွက် ကူညီစောင်မမည့်သူဟူ၍လည်း တစ်ဦးတစ်ယောက်မျှမရှိပါ။

رَبَّنَآ اِنَّنَا سَمِعْنَا مُنَادِيًا يُّنَادِيْ لِلْاِيْمَانِ اَنْ اٰمِنُوْا بِرَبِّكُمْ فَاٰمَنَّا ڰ رَبَّنَا

**၁၉၃။** အို- ကျွန်တော်မျိုးတို့၏အရှင်၊ မုချဧကန်၊ ကျွန်တော်မျိုးတို့သည် *ကြွေးကြော်သူတစ်ဦး*[၂] (၏ကြွေးကြော်သံကို) ကြားကြပါသည်။ ထိုသူသည် (လူခပ်သိမ်းတို့အား) "အီမာန်" ယုံကြည်ခြင်းတရား ထားရန်အလို့ငှာ (အို-လူအပေါင်းတို့) "အသင်တို့သည် မိမိတို့၏အရှင်မြတ်အား ယုံကြည်ကြကုန်" ဟု ကြွေးကြော်လျက်ရှိပါသည်။

---

>> အကြင်သူတစ်ဦးသည် ဤမုကဒ္ဒပါဠ်တော်ကို ရွတ်ဘတ်ပြီး ၎င်းမုကဒ္ဒပါဠ်တော်လာ အချက်များကို မတွေးတောမဆင်ခြင်သည်ရှိသော် ထိုသူသည် ပျက်စီးအံ့။

မွတ်စ်လင်မ်တို့သည် လောကဓာတ်ပညာများကိုလေ့လာဆည်းပူး၍ အလ္လာဟ်အရှင်မြတ်၏ အနန္တတန်ခိုးတော်များကို တွေးမြင်ကာ ထိုအရှင်မြတ်အား အမြဲတစေ အောက်မေ့တသ သတိရနိုင်ကြပါစေသတည်း။

(၁) ဤစကြာဝဠာကြီးသည် အလ္လာဟ်အရှင်မြတ်၏ အနန္တတန်ခိုးတော်ဖြင့် ဖြစ်ပေါ်လာ၏။ မိမိ အလိုအလျောက် ဖြစ်ပေါ်လာသည် မဟုတ်ချေ။ ထိုအရှင်မြတ်သည် ဤစကြာဝဠာကြီးကို အချည်းနှီး ဖန်ဆင်းထားတော်မူသည်လည်းမဟုတ်။ အကြောင်းအမျိုးမျိုး၊ အကျိုးအဖုံဖုံအတွက် ဖန်ဆင်းထားတော်မူခြင်းသာဖြစ်သည်။

(၂) ဤမုကဒ္ဒပါဠ်တော်တွင် ပါရှိသော "အီမာန် စွဲယူယုံကြည်ရန် ကြွေးကြော်သူ" ဟူသည် နဗီတမန်တော် (မုဟမ္မဒ် ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ကို ဆိုလိုသည်။ အလ်မနာရ်။

فَاغْفِرْ لَنَا ذُنُوْبَنَا
وَكَفِّرْ عَنَّا سَيِّاٰتِنَا
وَتَوَفَّنَا مَعَ الْاَبْرَارِ ﴿١٩٣﴾

သို့ ဖြစ်ပါ၍ ကျွန်တော် မျိုးတို့သည် (အရှင်မြတ်အား) ယုံကြည် ကြပါပြီ။ အို- ကျွန်တော်မျိုးတို့၏ အရှင်၊ သို့ဖြစ်ပါ၍ အရှင်မြတ်သည် ကျွန်တော်မျိုးတို့၏ (ကြီးလေးသော) အပြစ်များကို ခွင့်လွှတ်တော်မူပါ။ ၎င်းပြင် အရှင်မြတ်သည် ကျွန်တော်မျိုးတို့၏ (သေးငယ်သော) မကောင်းမှုများကိုလည်း ကျွန်တော်မျိုးတို့ထံမှ ပပျောက်စေတော်မူပါ။ ၎င်းပြင် အရှင်မြတ်သည် (မိမိ၏ ကရုဏာတော်အဟုန်ဖြင့်) ကျွန်တော်မျိုးတို့အား သူမွန်သူမြတ်တို့နှင့် အတူတကွ သေဆုံးစေတော်မူပါ။

رَبَّنَا وَاٰتِنَا مَا وَعَدْتَّنَا
عَلٰى رُسُلِكَ وَلَا تُخْزِنَا
يَوْمَ الْقِيٰمَةِ ؕ اِنَّكَ
لَا تُخْلِفُ الْمِيْعَادَ ﴿١٩٤﴾

**၁၉၄။** အို- ကျွန်တော်မျိုးတို့၏အရှင်၊ ၎င်းပြင် အရှင်မြတ်သည် မိမိ၏ ရစူလ် တမန်တော်များမှ တဆင့် ကျွန်တော်မျိုးတို့အား ကတိပြုတော်မူသော ကုသိုလ် အကျိုးကိုလည်း ကျွန်တော်မျိုးတို့အား ပေးသနားတော် မူပါ။ ၎င်းပြင် အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ကိယာမတ်နေ့တွင် ဂုဏ်ရည် သေးသိမ်အောင် ပြုတော်မမူပါလင့်။ မုချဧကန် အရှင်မြတ်သည် (မိမိထားရှိသော) ကတိတော်ကို (ဘယ်သော အခါမျှ) ဖောက်ဖျက်တော် မူသည် မဟုတ်ပါ။

فَاسْتَجَابَ لَهُمْ رَبُّهُمْ
اَنِّىْ لَاۤ اُضِيْعُ عَمَلَ عَامِلٍ
مِّنْكُمْ مِّنْ ذَكَرٍ اَوْ اُنْثٰى ۚ
بَعْضُكُمْ مِّنْۢ بَعْضٍ ۚ

**၁၉၅။** သို့ ဖြစ်ပေရာ ထို သူတော်စင်တို့၏ လျှောက်ထား ပန်ကြားချက်ကို ထိုသူတို့၏ အရှင်မြတ်သည် သဘောတူ လက်ခံတော် မူခဲ့လေပြီ။ အကြောင်းသော်ကား ငါအရှင်မြတ်သည် အသင်တို့ အနက်မှ မည်သည့် ကောင်းမှုပြုသောသူ၏ကောင်းမှုကိုမျှ အလဟဿ အချည်းနှီး ဖြစ်စေတော်မူသည် မဟုတ်သောကြောင့်တည်း။

فَالَّذِيْنَ هَاجَرُوْا وَاُخْرِجُوْا مِنْ دِيَارِهِمْ وَاُوْذُوْا فِيْ سَبِيْلِيْ وَقٰتَلُوْا وَقُتِلُوْا لَاُكَفِّرَنَّ عَنْهُمْ سَيِّاٰتِهِمْ وَلَاُدْخِلَنَّهُمْ جَنّٰتٍ تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ ۚ ثَوَابًا مِّنْ عِنْدِ اللّٰهِ ۗ وَاللّٰهُ عِنْدَهٗ حُسْنُ الثَّوَابِ ﴿١٩٥﴾

ထိုကောင်းမှုပြုသူသည် ယောကျ်ားဖြစ်စေ၊ မိန်းမဖြစ်စေ၊ အသင်တို့ အညမည အချင်းချင်း တစ်ဦးသည် တစ်ဦး၏အစိတ်အပိုင်း (ဖြစ်ပေရာ အမိန့်တော်လည်း *တမျိုးတစားတည်းပင်)ဖြစ်ချေသည်။*[၁]

ပြီးနောက် အကြင်သူတို့သည် (မှန်ကန်သောတရားလမ်းစဉ်ကို လိုက်နာ ကျင့်မှုနိုင်အံ့သောငှာ မိမိတို့၏ နေရင်းဒေသကို) စွန့်လွှတ် ထွက်ခွာခဲ့ကြကုန်၏။ ၎င်းပြင် မိမိတို့၏နေအိမ်များမှ နှင်ထုတ်ခြင်းလည်း ခံခဲ့ကြရ၏။ ၎င်းပြင် ငါ အရှင်မြတ်၏ လမ်းတော်၌ (အမျိုးမျိုးသော)ဒုက္ခပေးခြင်းကိုလည်း ခံခဲ့ကြရ၏။ ၎င်းပြင် (မှန်ကန်သောတရားလမ်းစဉ်၌) စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခဲ့ကြ၏။ (များစွာသောသူများသည်) သတ်ဖြတ်ခြင်းကိုလည်းခံခဲ့ကြရ၏။ ငါအရှင်မြတ်သည် ထိုသူတို့၏ မကောင်းမှုဒုစရိုက်တို့ကို မုချဖယ်ရှားတော်မူအံ့။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့အား *အကြင်ဥယျာဉ်တော်များသို့လည်း ဝင်ရောက်စေတော်မူအံ့။* [J] ထိုဥယျာဉ်တော်များ၏ အောက်၌ စမ်းရေချောင်းများ စီးဆင်းလျက်ရှိ၏။ ဤသည် အလ္လာဟ်အရှင်မြတ်အထံတော်မှ ရရှိမည့် ကုသိုလ်အကျိုးပင်ဖြစ်ချေသည်။ အမှန်စင်စစ် အမွန်မြတ်ဆုံးသော အကျိုးဆုလာဘ်သည်ကား အလ္လာဟ်အရှင်မြတ်အထံတော်၌သာလျှင် ရှိပေသတည်း။

(၁) မိန်းမနှင့်ယောကျ်ားသည် တမန်တော်အာဒမ်နှင့် မိခင်ကြီး ဟောင်ဝါတို့မှ ဆင်းသက် ပေါက်ဖွားလာကြ၏။ သီးခြား ကင်းကွာလျက်ရှိသောသူများ မဟုတ်ကြပေ။ အညမည အချင်းချင်း ဆက်စပ်လျက်ရှိကြပေသည်။

အစ္စလာမ်သာသနာမထွန်းကားမီ အမိုက်ခေတ်များတွင် မိန်းမဖြစ်ခြင်းကိုပင် အပြစ်ဟူ၍ ယူဆခဲ့ကြ၏။ အမျိုးသမီးများသည် မိမိတို့၏ အခွင့်အလမ်းများ ဆုံးရှုံးခဲ့ကြရ၏။ အမျိုးသမီးများသည် တိရစ္ဆာန်ဘဝသို့ပင် ရောက်ရှိနေခဲ့ကြရ၏။ အစ္စလာမ်သာသနာသည် အမျိုးသမီးတို့၏ အဆင့်အတန်းကို မြှင့်တင်၍ ရသင့်ရထိုက်သော အခွင့်အလမ်းကို အတိအကျ ပေးထားလေသည်။ အစ္စလာမ် သာသနာတော်အရ ကံ၊ ကံ၏အကျိုး ➢➢

لَا يَغُرَّنَّكَ تَقَلُّبُ الَّذِيْنَ كَفَرُوْا فِي الْبِلَادِ ﴿١٩٦﴾

၁၉၆။ (အို–နဗီတမန်တော်) အမြို့မြို့အရွာရွာတွင် (လောကီစည်းစိမ်များဖြင့် ပြည့်ပြည့်စုံစုံ ချမ်းသာစွာ) ကာဖိရ်တို့၏သွားလာခြင်းသည် အသင့်အား အထင်မှား အမြင်မှား မဖြစ်စေနှင့်။

مَتَاعٌ قَلِيْلٌ ۫ ثُمَّ مَاْوٰىهُمْ جَهَنَّمُ ؕ وَ بِئْسَ الْمِهَادُ ﴿١٩٧﴾

၁၉၇။ (အမှန်စင်စစ်သော်ကား ယင်းသွားလာမှုနှင့် စည်းစိမ်ချမ်းသာများသည်) တဒင်္ဂ တခဏမျှသော အကျိုးခံစားမှုမျှသာဖြစ်သည်။ နောက်ဆုံးတွင်မူကား ထိုသူတို့၏ ပြန်လည်ရာဌာနသည် "ဂျဟန္နမ်" ငရဲဘုံ သည်သာလျှင် ဖြစ်လတ္တံ့။ စင်စစ် ယင်း ဂျဟန္နမ် ငရဲဘုံသည် အလွန်တရာ ဆိုးဝါးလှသော နေရာပင် ဖြစ်ပေသတည်း။

لٰكِنِ الَّذِيْنَ اتَّقَوْا رَبَّهُمْ لَهُمْ جَنّٰتٌ تَجْرِيْ مِنْ تَحْتِهَا

၁၉၈။ သို့ရာတွင်မူကား အကြင်သူတို့သည် မိမိတို့၏အရှင်မြတ်ကို ကြောက်ရွံ့ (ရိုသေခြင်းအား ဖြင့် ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်)ကြပါမူ ထို သူတို့အတွက် အကြင်ဥယျာဉ်များရှိအံ့။

---

➤➤ တရားများတွင် မိန်းမနှင့်ယောကျ်ားသည် အတူတူပင်ဖြစ်ပေသည်။ ဥပမာ–အလ္လာဟ်အရှင်မြတ်သည် အမျိုးသားများ၏ ကုသိုလ်ကောင်းမှုများကို လက်ခံတော်မူဘိသကဲ့သို့ အမျိုးသမီးများ၏ ကုသိုလ်ကောင်းမှု များကိုလည်း လက်ခံတော်မူလေသည်။

အလ္လာဟ်အရှင်မြတ်သည် မိမိ၏ သူတော်စင် ကျွန်များအား (ကုသိုလ်အကျိုးပေးတော်မူရန်) ကတိပြုတော်မူရာ၌ အမျိုးသားများနှင့်အတူ အမျိုးသမီးများပါဝင်ကြောင်း ကုရ်အာန်ကျမ်းတော်တွင် ဖွင့်ဟမိန့်ဆိုထားတော်မူသည်။ (မဒါရစ်က်)

(၂) အလ္လာဟ်အရှင်မြတ်သည် မည်သူတစ်ဦးတစ်ယောက်၏ သာမန်ကုသိုလ်အကျိုးကိုပင်လျှင် အချည်းနှီး ဖြစ်စေတော်မမူပေရာ၊ အစ္စလာမ် သာသနာရေးအတွက် တိုင်းပြည်ကို စွန့်ခွာခဲ့ကြရကုန်သော တိုင်းပြည်မှ နှင်ထုတ်ခြင်း ခံခဲ့ကြရကုန်သော ဒုက္ခအမျိုးမျိုးနှင့် ရင်ဆိုင်ခဲ့ကြရကုန်သော စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခဲ့ကြ ရကုန်သော သတ်ဖြတ်ခြင်း ခံခဲ့ကြရကုန်သော သာသနာ့အာဇာနည်တို့၏ ကုသိုလ်အကျိုးများကိုကား အဘယ် မှာလျှင် အချည်းနှီး ဖြစ်စေတော်မူအံ့နည်း။

ထို့အတွက်ကြောင့်ပင် အလ္လာဟ်အရှင်မြတ်သည် ထိုသို့သော သာသနာ့ အာဇာနည်တို့၏ ပြစ်မှု ကြီးငယ် အားလုံးတို့ကို ပပျောက်စေတော်မူပြီး ထိုသူတော်စင်များအား ဂျန္နတ် အမတသုခဘုံများတွင် စံမြန်းစေတော် မူမည်ဟု ကုရ်အာန်ကျမ်းတော်တွင် အတည့် အလင်း မိန့်ကြားထားတော်မူလေသည်။

الْأَنْهٰرُ خٰلِدِيْنَ فِيْهَا نُزُلًا
مِّنْ عِنْدِ اللّٰهِ ۗ وَمَا عِنْدَ
اللّٰهِ خَيْرٌ لِّلْأَبْرَارِ ﴿١٩٨﴾

ထိုဥယျာဉ်များ၏အောက်မှ စမ်းရေချောင်း များ စီးတွေလျက်ရှိကြ၏။ ထိုသူတို့သည် ၎င်းဥယျာဉ်များ၌ထာဝစဉ် နေထိုင်စံမြန်းလျက် ရှိကြပေမည်။ ဤသည် အလ္လာဟ် အရှင်မြတ် အထံတော်မှ ဧည့်ခံတော်မူခြင်းပင် ဖြစ်ချေသည်။ အမှန်သော်ကား အလ္လာဟ် အရှင်မြတ် အထံတော်၌ ရှိသော အရာသည် သူမွန်သူမြတ်တို့အဘို့ *အကောင်းဆုံးပင် ဖြစ်ပေသည်။* [၁]

وَإِنَّ مِنْ أَهْلِ الْكِتٰبِ
لَمَنْ يُّؤْمِنُ بِاللّٰهِ وَمَا أُنْزِلَ
إِلَيْكُمْ وَمَا أُنْزِلَ إِلَيْهِمْ
خٰشِعِيْنَ لِلّٰهِ ۙ لَا يَشْتَرُوْنَ
بِاٰيٰتِ اللّٰهِ ثَمَنًا قَلِيْلًا ۗ أُولٰٓئِكَ
لَهُمْ أَجْرُهُمْ عِنْدَ رَبِّهِمْ ۗ إِنَّ
اللّٰهَ سَرِيْعُ الْحِسَابِ ﴿١٩٩﴾

**၁၉၉။** ၎င်းပြင် မုချဧကန် ကျမ်းဂန်ရရှိသော သူတို့အနက် အကြင်သူတို့သည်လည်း ဧကန်စင်စစ် ရှိကြကုန်၏။ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ် ကိုင်း၊ အသင်တို့ထံ ထုတ်ပြန် ပို့ချပြီးဖြစ်သော အရာ[(ဝါ) ကုရ်အာန်ကျမ်းတော်မြတ်] ကိုင်း၊ မိမိတို့ထံထုတ်ပြန် ပို့ချပြီးဖြစ်သောအရာ (ဝါ) "တောင်ရာတ်" နှင့် "အင်န်ဂျီလ်" ကျမ်းများကိုင်း၊ သက်ဝင်ယုံကြည် ကြကုန်သည်။ ယင်းသူတို့သည် အလ္လာဟ် အရှင်မြတ် ရှေ့တော်မှောက်ဝယ် မိမိတို့ ကိုယ်ကို နှိမ့်ချ ကျိုးနွံလျက် ရှိကြကုန်သည်။ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်၏ မုက္ခပါဌ် တော်များနှင့် အနည်းငယ်မျှသော အဘိုးအခကို လဲလှယ် ဝယ်ယူကြသည်လည်း မဟုတ်ပေ။ ဤကဲ့သို့သောသူတို့၏ အကျိုးဆုလာဘ်သည် ထိုသူတို့၏အရှင်မြတ် အထံတော်၌ ရှိချေပြီ။

---

(၁) **ထုတ်ပြန်ပို့ချတော်မူသည့် အကြောင်း။**

အချို့မွတ်စ်လင်မ်များက ချောင်, လည်, ချမ်း, သာ, သွားလာနေထိုင်ကြသော မွရှ်ရစ်ကတ်တို့အား မြင်ကြသောအခါ "အလ္လာဟ်အရှင်မြတ်၏ ရန်သူများသည် ငါတို့အမြင်၌ ကောင်းစွာရှိကြ၏။ ငါတို့မူကား တော်မွတ်ခြင်း၊ ဒုက္ခဖြစ်ခြင်းကြောင့် ပျက်စီးလျက်ရှိကြ၏" ဟု ပြောဆိုကြလေသည်။ ထိုအခါ ဤမုက္ခပါဌ်တော် ကျရောက်လာလေသည်။ ဗိုင်သွာဝီ။

အမှန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် (လူခပင်းတို့၏ သုစရိုက်၊ ဒုစရိုက်တို့ကို) ဆောလျင်စွာ စောကြော စစ်ဆေးတော်မူမည့် အရှင် ဖြစ်တော်မူပေသတည်း။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ ٱصْبِرُوا۟ وَصَابِرُوا۟ وَرَابِطُوا۟ وَٱتَّقُوا۟ ٱللَّهَ لَعَلَّكُمْ تُفْلِحُونَ ۝٢٠٠

**၂၀၀။** အို- သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် (ဒုက္ခတွေ့ကြုံလျှင်) သည်းခံကြလေကုန်။ ၎င်းပြင် (ရန်သူတို့နှင့်) ပြိုင်ဆိုင်တိုက်ခိုက်ရာတွင်လည်း တည်တံ့ခိုင်မြဲစွာ ရှိကြလေကုန်။ ၎င်းပြင် အသင်တို့သည် (ရန်သူတို့အား ခုခံကာကွယ်ရန်) *အဆင်သင့် ရှိကြလေကုန်။* [၁]

ထို့ပြင်တဝ အသင်တို့သည် (အခါခပ်သိမ်း) အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့ ခန့်ညားကြလေကုန်။ သို့မှသာလျှင် အသင်တို့သည် အောင်မြင်ကြပေမည်။

---

(၁) 'ရာဗိတွူ' ဟူသောပုဒ်သည် 'မုရာဗတွာတွ်' ဟူသော မူရင်းဓါတ်မှ ဆင်းသက်လာ၏

(က) ရိဗာတွ်၏ မူရင်းအဓိပ္ပါယ်မှာ ရန်သူကို ကာကွယ်ရန်အတွက် မြင်းကို ခြည်နှောင်ခြင်းဖြစ်သည်။ ထိုမှတဆင့် မိမိနောက်၌ ရှိသူများအတွက် ရန်သူကို ကာကွယ်ရန် မြင်းပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ နယ်စပ်မှ ကင်းစောင့်ခြင်းအနက်တွင် အသုံးဖြစ်လာချေသည်။ ကြည့်-အိဗ်နုဂျရီရ်။

(ခ) မုရာဗတွာတ်၏ အနက်အဓိပ္ပါယ်မှာ (က) ကာဖိရ်များ၏ ဘေးရန်ကို ကာကွယ်ရန်အတွက် အစ္စလာမ်နိုင်ငံနှင့် ကုဖ်ရ်နိုင်ငံစပ်ကြားရှိ နယ်စပ်တွင် ကင်းစောင့်ခြင်း၊ (ခ) အမိန့်တော်များကို စွဲမြဲစွာ လိုက်နာဆောင်ရွက်ခြင်းဟူ၍ဖြစ်သည်။

ဆွလာတ်တစ်ကြိမ်ဝတ်ပြုပြီးနောက် နောက်တစ်ကြိမ် ဆွလာတ်ပြုရန် စောင့်မျှော်ခြင်းကိုလည်း ရိဗာတွ်ဟူ၍ တမန်တော်မြတ် မိန့်ကြားတော်မူခဲ့လေသည်။ (မုရာဗတွာတွ် နှင့် ရိဗာတွ် ဟူသော ပုဒ်များသည် အဓိပ္ပါယ်တူဖြစ်သည်)။ ဤမုက္ခပါဌ်တော်တွင် ပါရှိသော 'ရာဗိတွူ' ဟူသော ပုဒ်၌ အဆိုပါအဓိပ္ပါယ်နှစ်ရပ်လုံး အကျုံးဝင်နိုင်ပေသည်။ ကြည့်-ထာနဝီ။

ကင်းစောင့်ခြင်းအကျိုးနှင့်စပ်လျဉ်း၍ တမန်တော်မြတ်က အောက်ပါအတိုင်း မိန့်ကြားတော်မူခဲ့၏။

အကြင်သူတစ်ဦးသည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ တနေ့နှင့်တညဉ့်
ကင်းစောင့်အံ့၊ ထိုသူသည် တစ်လတိတိ စဉ်တိုက် ဆွိယာမ်ဥပုသ် ဆောက်တည်ခြင်း၊
တစ်လတိတိ ဆွလာတ် ဝတ်ပြုခြင်းနှင့်အမျှ အကျိုးရရှိပေမည်။




بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

يٰۤاَيُّهَا النَّاسُ اتَّقُوْا رَبَّكُمُ
الَّذِيْ خَلَقَكُمْ مِّنْ نَّفْسٍ
وَّاحِدَةٍ وَّخَلَقَ مِنْهَا زَوْجَهَا
وَبَثَّ مِنْهُمَا رِجَالًا كَثِيْرًا
وَّنِسَآءً ۚ وَاتَّقُوا اللّٰهَ الَّذِيْ
تَسَآءَلُوْنَ بِهٖ وَالْاَرْحَامَ ؕ

## အမျိုးသမီးများကဏ္ဍ

အစဉ်မပြတ် သနားကြင်နာတော်မူထသော
အနန္တကရုဏာတော်ရှင် ဖြစ်တော်မူထသော
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့်
(အစပြုပါ၏)။

၁။ အို-မနုဿ လူသားအပေါင်းတို့၊ အသင်တို့
သည် မိမိတို့အား ဖန်ဆင်း မွေးမြူတော်မူသော
အရှင်မြတ်ကို *ကြောက်ရွံ့ (ရိုသေ)ကြကုန်လော့*။ [၁]
ထို အရှင်မြတ်သည် အသင်တို့အား *အသက်*
*တစ်ချောင်းတည်းမှ ဖန်ဆင်းတော်မူခဲ့လေသည်*။ [၂]
၎င်းပြင် ထိုအရှင်မြတ်သည် *ထိုအသက်တစ်ချောင်း*
*တည်းမှပင် ၎င်း၏ ကြင်ရာ ကြင်ဘက်ကိုလည်း*
*ဖန်ဆင်းတော်မူခဲ့လေ၏*။ [၃] ၎င်းနောက် ထို(လူသား)
နှစ်ဦးတို့မှ များပြားလှစွာသော ယောကျာ်း၊ မိန်းမ
တို့ကို ပြန့်ပွားစေတော်မူခဲ့လေသည်။

---

(၁) ဤမုက္ခပါဌ်တော်သည် လူသားလုံးကို ရည်ညွှန်း၍ မိန့်ဆိုထားတော်မူသော မုက္ခပါဌ်တော်ပင်ဖြစ်သည်။ အီမာန် စွဲယူယုံကြည်ခြင်းနှင့် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေမြတ်နိုးခြင်းသည် လူတိုင်း၏ တာဝန်ပင်ဖြစ်သည်။ မာဂျိဒီ။

(၂) လူ့ဖြစ်စဉ်နှင့် လူ၏ မျိုးရိုးစဉ်ဆက် ဖြစ်ပေါ်လာပုံကို တွေးခေါ်မြော်မြင် ဆင်ခြင်သူတိုင်းသည် အလ္လာဟ်အရှင်မြတ်၏ အနန္တတန်ခိုးတော်များကား ထူးထွေဆန်းကြယ်လှပါဘိဟု မုချ ဝန်ခံရပေမည်။ အလ္လာဟ်အရှင်မြတ်သည် ဦးစွာပဌမ အာဒမ်အား ဖန်ဆင်းတော်မူ၏။ အာဒမ်မှ ဟောင်ဝါကို ဖန်ဆင်းတော်မူ၏။ ထို မိခင် ဖခင်နှစ်ဦးတို့မှ မိန်းမယောကျာ်း လူအမြောက်အများ ဆင်းသက်ပေါက်ဖွားလာကြ၏။ အိမ်ထောင်စုများ၊ မျိုးနွယ်များအဆင့်ဆင့် ဖြစ်ပေါ်လာပြီး ကမ္ဘာ့အိမ်ထောင်စုကြီး ဖြစ်ပေါ်လာ၏။ သို့ဖြစ်၍ ကမ္ဘာ့လူသားထုကြီး တစ်ရပ်လုံးသည် ဖြူနက်မခြား၊ ဆင်းရဲချမ်းသာမရွေး၊ ဇာတ်နိမ့်၊ ဇာတ်မြင့်မခွဲ အမိအဘ တစ်ဦးတည်းမှ ဆင်းသက်ပေါက်ဖွားလာကြသော ညီရင်းအစ်ကို မောင်ရင်းနှမများသာ ဖြစ်ကြလေသည်။ နယ်ပယ်ခြားခြင်း၊ အဆင်းအရောင် ကွဲပြားခြင်းသည် လူမျိုးစဉ်ဆက်ကို မဖျက်ဆီးနိုင်ပေ။

ဤသဘောကိုပင် တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က အောက်ပါအတိုင်း မိန့်ကြားတော်မူခဲ့လေသည်။



إِنَّ ٱللَّهَ كَانَ عَلَيْكُمْ رَقِيبًا ①

သို့ ဖြစ်ပေရာ အသင်တို့သည် အကြင် အလ္လာဟ်အရှင်မြတ်ကို ကြောက်ရွံ့ကြကုန်လော့။ အသင်တို့သည် ထိုအရှင်မြတ်အား အကြောင်းပြု၍ မိမိတို့အချင်းချင်း (မိမိတို့၏ အခွင့်အရေးများကို) တောင်းဆို ကြကုန်၏။ ၎င်းပြင် အသင်တို့သည် *ဆွေမျိုးညာတကာ(တို့၏ အခွင့်အရေးများကို ဆုံးရှုံး နစ်နာစေခြင်း)မှလည်း ကြဉ်ရှောင်ကြကုန်လော့။* ၁ အလ္လာဟ် အရှင်မြတ်သည် အသင်တို့အပေါ်ဝယ် ဧကန်စင်စစ် ကြီးကြပ် ထိန်းသိမ်း စောင့်ရှောက် ကြည့်ရှုတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေ သတည်း။

---

➤➤ အရဗ်လူမျိုးသည် အခြားလူမျိုးထက်မသာ၊ အခြားလူမျိုးသည်လည်း အရဗ်လူမျိုးထက်မသာ၊ အသင်တို့သည် အာဒမ်၏ သားသမီးများ ဖြစ်ကြသည်၊ အာဒမ်သည် မြေမှဖြစ်၏။

သတ္တဝါအပေါင်းတို့သည် အလ္လာဟ်အရှင်မြတ်၏ အိမ်တော်သူ အိမ်တော်သားများဖြစ်ကြသည်။ ထိုအိမ်တော်သူ အိမ်တော်သားများအနက် အလ္လာဟ်အရှင်မြတ်အထံတော်၌ ချစ်မြတ်နိုး ဘွယ်ရာ အကောင်းဆုံးသော သူသည် ထို အရှင်မြတ်၏ အိမ်တော်သူ အိမ်တော်သားများအား အကောင်းပြုသူပင်ဖြစ်သည်။

ဤမုကဒ္ဒမ္မပါဌ်တော်၏ သဘောကိုပင် ကုရ်အာန်ကျမ်းမြတ် (၄၉း၁၃)တွင်လည်း မိန့်ဆိုထားတော်မူသည်။

② ဘခင်ကြီးအာဒမ်(အလိုင်ဟစ္စလာမ်)မှ မိခင်ကြီး ဟောင်ဝါ(အလိုင်ဟာစ္စလာမ်)အား ဖန်ဆင်းတော် မူသည့်အကြောင်း ရေးသားဖော်ပြခဲ့ပေပြီ။

① ကမ္ဘာအိမ်ထောင်စုသားများသည် တစ်ဦးနှင့်တစ်ဦး ဆက်စပ်မှီတွယ်လျက်ရှိကြပေရာ ဆွေမျိုးသားချင်းတို့၏ အခွင့်အရေးကို အထူးလေးစား ထောက်ထားကြရပေမည်။ တစ်ဦးကိုတစ်ဦး ကူညီယိုင်းပင်းရပေမည်။ ဆွေမျိုး သားချင်း တို့နှင့် အလျင်း အဆက်မဖြတ်သင့်ပေ။

ဆွေမျိုးသားချင်းတို့နှင့် အဆက်ဖြတ်သူနှင့်စပ်လျဉ်း၍ တမန်တော်မြတ်သည် အောက်ပါအတိုင်း မိန့်ကြားတော်မူခဲ့သည်။

သားချင်းနှင့် အဆက်ဖြတ်သူသည် ဂျန္နတ်သို့ ဝင်ရမည်မဟုတ်ပေ။

သားချင်းတို့၏ အခွင့်အရေးများကို ထောက်ထားရမည့် အကြောင်းနှင့်စပ်လျဉ်း၍ 'ဖုကဟာ' ဓမ္မသတ်ရှင်များကလည်း အောက်ပါအတိုင်း တညီတညွတ်တည်း မိန့်ဆိုထားကြလေသည်။

သားချင်းတို့အား စောင့်ရှောက်ခြင်းသည် 'ဝါဂျစ်ဗ်' မုချပြုအပ်သော တာဝန် တစ်ရပ်ဖြစ်၍ သားချင်းတို့နှင့် အဆက်ဖြတ်ခြင်းသည် 'ဟရာမ်' ဖြစ်သည်ဟူ၍ 'ဖုကဟာ' ဓမ္မသတ်ပါရဂူရှင်များ အဆိုညီကြလေသည်။ (ကုရ်တုဗီ)

وَءَاتُوا الْيَتَٰمَىٰٓ أَمْوَٰلَهُمْ وَلَا تَتَبَدَّلُوا الْخَبِيثَ بِالطَّيِّبِ وَلَا تَأْكُلُوٓا أَمْوَٰلَهُمْ إِلَىٰٓ أَمْوَٰلِكُمْ إِنَّهُۥ كَانَ حُوبًا كَبِيرًا ۝٢

၂။ ထို့ပြင်တဝ အသင်တို့သည် အဘမဲ့ကလေးတို့အား ထိုသူတို့၏ ဥစ္စာပစ္စည်းများကို (သစ္စာရှိစွာဖြင့်) *ပြန်၍ပေးကြကုန်လော့။*[၁] ၎င်းပြင် အသင်တို့သည် (မိမိတို့၏ပစ္စည်း) အညံ့ကို (အဘမဲ့တို့၏ပစ္စည်း)အကောင်းနှင့် လဲလှယ်ခြင်းမပြုကြကုန်လင့်။ ၎င်းပြင် အသင်တို့သည် ထိုအဘမဲ့ ကလေးတို့၏ ဥစ္စာပစ္စည်းများကို မိမိတို့၏ ဥစ္စာပစ္စည်းများနှင့် ရောနှော စားသုံးခြင်းကိုလည်း မပြုကြကုန်လင့်။ ယင်းကဲ့သို့ပြုမူခြင်းသည် စင်စစ်ဧကန် ကြီးစွာသော အပြစ်ပင်ဖြစ်ချေ၏။

وَإِنْ خِفْتُمْ أَلَّا تُقْسِطُوا فِى الْيَتَٰمَىٰ فَانكِحُوا مَا طَابَ لَكُم مِّنَ النِّسَآءِ مَثْنَىٰ وَثُلَٰثَ وَرُبَٰعَ فَإِنْ خِفْتُمْ

၃။ သို့ရာတွင် အကယ်၍ အသင်တို့သည် ဘမဲ့မိန်းကလေးများနှင့် (ထိမ်းမြားရာတွင် ထိုမိန်းကလေးတို့၏အခွင့်အရေးများနှင့်)ပတ်သက်၍ တရားမျှတအောင် ပြုလုပ်နိုင်ကြမည်မဟုတ်ဟု စိုးရိမ်ကြသော် (ထိုမိန်းကလေးနှင့်မထိမ်းမြားကြနှင့်) မိမိတို့နှစ်ခြိုက်သော (အခြား) အမျိုးသမီးများအနက် (ယောကျ်ား တစ်ဦးလျှင်) မိန်းမ နှစ်ယောက်စီနှင့်ဖြစ်စေ၊ သို့မဟုတ် မိန်းမ သုံးယောက်စီနှင့်ဖြစ်စေ၊ သို့မဟုတ် မိန်းမ လေးယောက်စီနှင့်ဖြစ်စေ ထိမ်းမြားကြကုန်။

---

(၁) ဆွေမျိုးသားချင်းတို့တွင် မိဘမဲ့ ဖြစ်နေကြရရှာသော ဘမဲ့ကလေးများ၏ ပြဿနာသည် ခေတ်တိုင်းနှင့် လူမျိုးတိုင်းတွင် အရေးကြီးဆုံးသော ပြဿနာကြီးတစ်ရပ်ပင်ဖြစ်ပေသည်။ သို့ အရေးကြီးသည့်အားလျော်စွာ အလ္လာဟ်အရှင်မြတ်သည် ဘမဲ့ကလေးများနှင့်စပ်လျဉ်း၍ ဤမုကဒ္ဒပါဠ်တော်တွင် အဆုံးအမ ဩဝါဒများ ပေးထားတော်မူသည်။

ဘမဲ့ကလေးများ၏ အုပ်ထိန်းသူများသည် ထိုကလေးများ အရွယ်ရောက်၍ မိမိတို့ပိုင်ဆိုင်သော ပစ္စည်းများကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ မဆိုင်းမတွဘဲ ပြန်လည် ပေးအပ်ကြရမည်။ အဘမဲ့ကလေးများ၏ ကောင်းသောပစ္စည်းများကို ထုတ်ယူပြီး မိမိတို့၏ မကောင်းသောပစ္စည်းများကို အစားထည့်သွင်းပေးခြင်းကိုလည်း မပြုလုပ်ကြရပေ။ ဘမဲ့ကလေးများ၏ ပစ္စည်းနှင့် မိမိတို့၏ပစ္စည်းများကိုလည်း ရောပြွန်း၍ မစားသုံးကြရပေ။

اَلَّا تَعۡدِلُوۡا فَوَاحِدَةً اَوۡ مَا مَلَكَتۡ اَيۡمَانُكُمۡ ؕ ذٰلِكَ اَدۡنٰۤى اَلَّا تَعُوۡلُوۡا ؕ ③

တဖန် အကယ်၍ အသင်တို့သည် (မိန်းမ တစ်ယောက်ထက်ပို၍ ထိမ်းမြားရာတွင်) တရားမျှတမှုကို ပြုနိုင်ကြမည် မဟုတ်ဟု စိုးရိမ်မကင်းဖြစ်ကြပြန်သော် (ဇနီးမိန်းမ) တစ်ဦးတည်းနှင့်ပင် (တင်းတိမ်ကြရမည်)။ သို့မဟုတ်ပါမူ (တရားတော်အရ) မိမိတို့လက်အောက်ပိုင်ဆိုင်သော ကျွန်မိန်းမနှင့်ပင် တင်းတိမ်ကြရမည်။ ဤသည် အသင်တို့စည်းကမ်း ကျူးလွန်မှု မပြုကြရန် အနီးစပ်ဆုံး (အသင့်လျော်ဆုံးနည်းပင်) ဖြစ်ချေသည်။

وَاٰتُوا النِّسَآءَ صَدُقٰتِهِنَّ نِحۡلَةً ؕ فَاِنۡ طِبۡنَ لَـكُمۡ عَنۡ شَىۡءٍ مِّنۡهُ نَفۡسًا فَكُلُوۡهُ هَنِيۡٓـــًٔا مَّرِیۡٓـــٴًﺎ ④

၄။ ထို့ပြင်တဝ အသင်တို့သည် (မိမိတို့၏) ဇနီးမိန်းမတို့အား ၎င်းတို့၏ 'မဟာရ်' ကို *ကြည်ဖြူစွာ ပေးကြကုန်လော့*။ [၁] သို့ရာတွင် အကယ်၍ ထိုဇနီးမိန်းမတို့က ယင်း 'မဟာရ်'အနက်မှ တချို့တဝက်ကို (သော်၎င်း၊ အားလုံးကိုသော်၎င်း) အသင်တို့အတို့ သဒ္ဓါစိတ် ကြည်ဖြူစွာနှင့် စွန့်လွှတ်ကြပါလျှင် အသင်တို့သည် (စွန့်လွှတ်သော)ထို 'မဟာရ်' ကို *အရသာရှိရှိ မြိန်ရှက်စွာ စားသုံးနိုင်ကြသည်*။ [၂]

---

① **ဆက်စပ်မှု**

အထက်ပါ အာယသ်တော်များတွင် ထိမ်းမြားခြင်းအကြောင်းပါရှိ၏။ အစ္စလာမ်တရားတော်အရ ထိမ်းမြားရာတွင် 'မဟာရ်' ပစ္စည်းသည် အရေးကြီးသော အစိတ်အပိုင်းတခုဖြစ်၏။ များသောအားဖြင့်လူများသည် 'မဟာရ်' ပစ္စည်းပေးရာတွင် ခဲယဉ်းလျက်ရှိကြ၏။ ထို့ကြောင့် ဤအာယသ်တော်တွင် 'မဟာရ်ကို' ကြည်ဖြူစွာ ပေးကြရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။ (ထာနဝီ)

"ဆွဒုကဟ်" သည် "မဟာရ်" ကို ဆိုလိုသည်။ "မဟာရ်" ဟူသည် မိန်းမယူရန်အတွက် သက်ဆိုင်ရာမိန်းမ၏ ဆွေမျိုးသားချင်းတို့အား ထိုမိန်းမ၏ အဘိုးအခအဖြစ်ပေးသော ကြေးငွေပစ္စည်းမဟုတ်၊ အစ္စလာမ်တရားတော်တွင် "မဟာရ်" ဟူသည် ထိမ်းမြားရာတွင် မိန်းမအားလေးစားသောအားဖြင့် မေတ္တာလက်ဆောင်အဖြစ် ထိုမိန်းမကိုတိုက်ရိုက်ပေးရန် မိမိအပေါ်၌သတ်မှတ်ပြဋ္ဌာန်းထားသော ကြေးငွေပစ္စည်းကိုဆိုသည်။ ကြည့်–မာဂျိဒီ။

② အကယ်၍ ဇနီးမိန်းမများသည် မိမိတို့ပိုင်ဆိုင်သော 'မဟာရ်' ပစ္စည်းများအနက် တချို့တဝက်ကိုဖြစ်စေ၊ အားလုံးကိုပင်ဖြစ်စေ လင်ယောကျ်ားအတွက် ကြည်ဖြူစွာဖြင့် စွန့်လွှတ်ကြပါလျှင် ယောကျ်ားများသည် ထို 'မဟာရ်' ပစ္စည်းများကို ကြည်ဖြူစွာဖြင့် စားသုံးနိုင်ကြပေသည်။



وَلَا تُؤْتُوا السُّفَهَاءَ أَمْوَالَكُمُ الَّتِي جَعَلَ اللَّهُ لَكُمْ قِيَامًا وَارْزُقُوهُمْ فِيهَا وَاكْسُوهُمْ وَقُولُوا لَهُمْ قَوْلًا مَعْرُوفًا ﴿٥﴾

၅။ ၎င်းပြင် အသင်တို့သည် မိမိတို့ (ထံ၌ ထိန်းသိမ်းထားသော ဘမဲ့ကလေးများ၏) *ဥစ္စာပစ္စည်းများကို* [၁] အသိအလိမ္မာ *ဉာဏ်ပညာ နည်းပါးသော သူတို့အားမပေးကြကုန်လင့်။* [၂] အလ္လာဟ်အရှင်မြတ်သည် ထိုဥစ္စာပစ္စည်းများကို အသင်တို့အဘို့ အသက်မွေးဝမ်းကျောင်းမှုအတွက် အရင်းအနှီးအဖြစ် ပြုထားတော်မူသည်။ သို့ရာတွင် အသင်တို့သည် ထိုဥစ္စာပစ္စည်းများအနက်မှ ထိုသူတို့အား ကျွေးမွေးကြလေကုန်၊ ၎င်းပြင် ထိုသူတို့အား ဝတ်စားတန်ဆာဆင်ယင်ပေးကြလေကုန်၊ ၎င်းပြင် ထိုသူတို့အား ကောင်းမွန်သောစကားကို ပြောဆိုသွန်သင် ဆုံးမကြလေကုန်။

➤➤ သို့ရာတွင် ဇနီးမိန်းမတို့အား 'မဟရ်' ပစ္စည်းများကို စွန့်လွှတ်စေရန်အတွက် အဓမ္မနည်းကိုင်၎င်း၊ ပရိယာယ်ကိုင်၎င်း၊ အသုံးမပြုကြရချေ။ အကယ်၍ အကြင်သူတစ်ဦးသည် ပရိယာယ်ဖြင့်၎င်း၊ အဓမ္မနည်းဖြင့်၎င်း ဇနီးမိန်းမထံမှ 'မဟရ်'ပစ္စည်းများကိုစွန့်လွှတ်စေပြီး သက်ဆိုင်ရာတရားရုံးတော်က ထိုသူအား အနိုင်ပေးထားစေကာမူ ထိုသူသည် အလ္လာဟ်အရှင်မြတ်အထံတော်၌တွင်မူကား လွတ်ငြိမ်းချမ်းသာခွင့် ရမည်မဟုတ်ပေ။

ဇနီးမိန်းမသည် ခင်ပွန်းသည်ထံမှ 'မဟရ်' ပစ္စည်းကို လက်ခံယူပြီးသည့်နောက် 'မဟရ်' ပစ္စည်းများကို ခင်ပွန်းသည်အား ပြန်လည်ပေးခြင်းကို 'ဟိဗဟ်' ဟူ၍ခေါ်သည်။ 'မဟရ်' ပစ္စည်းကို ခင်ပွန်းသည်ထံမှ မယူမီပင် ထို'မဟရ်' ပစ္စည်းကို ခင်ပွန်းသည်အဘို့ စွန့်လွှတ်ခြင်းကို (အစ်ဗ်ရာအ်)ဟူ၍ခေါ်သည်။ တရားတော်အရ အဆိုပါနှစ်နည်းစလုံးသည်ပင် ပြုလုပ်ပိုင်ခွင့်ရှိသော နည်းများပင် ဖြစ်ပေသည်။ ကြည့်-မာဂျိဒီ။

(၁) (က)။ ဤမုက္ကပါဠ်တော်တွင် အသိအလိမ္မာ ဉာဏ်ပညာနည်းပါးသော သူများဟူသည် အသက်အရွယ်အားဖြင့် အရွယ်ရောက်သူများဖြစ်ကြလင့်ကစား ဥစ္စာပစ္စည်းများကို စံနစ်တကျ ထိန်းသိမ်းစီမံခန့်ခွဲ သုံးစွဲနိုင်ရန်အတွက် အသိအလိမ္မာ ဉာဏ်ပညာနည်းပါးကြသေးသော ဘမဲ့ကလေးများကို ဆိုလိုသည်။ ထိုကဲ့သို့သော ဘမဲ့ကလေးများအား ယင်းတို့၏ ဥစ္စာပစ္စည်းများကို ပြန်လည် အပ်လိုက်ပါက ထိုကလေးများသည် မိမိတို့၏ ဥစ္စာပစ္စည်းများကို မသုံးသင့်မသုံးအပ်သော နေရာများတွင် သုံးဖြုန်းပစ်ကြပေမည်။ သို့အတွက်ကြောင့်ပင် ဤမုက္ကပါဠ်တော်၌ ထိုသို့သော ဘမဲ့ကလေးတို့အား ယင်းတို့၏ ဥစ္စာပစ္စည်းများကို လောလောဆယ် ပြန်လည်မပေးအပ်သေးဘဲ ခေတ္တဆိုင်းငံ့ထားကြရမည့်အကြောင်း မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။ မာဂျိဒီ။

(ခ)။ ဤမုက္ကပါဠ်တော်၌ အုပ်ထိန်းသူများအား မိန့်ဆိုရာတွင် "အသင်တို့၏ ပစ္စည်းများ" ဟူသည် အုပ်ထိန်းသူများက မိမိတို့ထံ၌ ထိန်းသိမ်းထားသော ဘမဲ့ကလေးများ၏ ပစ္စည်းများကို ဆိုလိုသည်။ ဤကဲ့သို့ ဘမဲ့ကလေးများ၏ ပစ္စည်းများကို အုပ်ထိန်းသူများအား မိန့်ဆိုရာ၌ 'အသင်တို့၏ ပစ္စည်းများ' ဟု မိန့်ဆိုထားခြင်းမှာ ထိုပစ္စည်းများသည် အုပ်ထိန်းသူများ၏ စီမံအုပ်ချုပ်မှု အောက်တွင် ရှိနေခြင်းကြောင့်တည်း။

وَابْتَلُوا الْيَتٰمٰى حَتّٰىٓ اِذَا بَلَغُوا النِّكَاحَ ۚ فَاِنْ اٰنَسْتُمْ مِّنْهُمْ رُشْدًا فَادْفَعُوْٓا اِلَيْهِمْ اَمْوَالَهُمْ ۚ وَلَا تَاْكُلُوْهَآ اِسْرَافًا وَّبِدَارًا اَنْ يَّكْبَرُوْا ۭ وَمَنْ كَانَ غَنِيًّا فَلْيَسْتَعْفِفْ ۚ وَمَنْ كَانَ فَقِيْرًا فَلْيَاْكُلْ بِالْمَعْرُوْفِ ۭ فَاِذَا دَفَعْتُمْ اِلَيْهِمْ اَمْوَالَهُمْ فَاَشْهِدُوْا عَلَيْهِمْ ۭ وَكَفٰى بِاللّٰهِ حَسِيْبًا ۝

၆။ ၎င်းပြင် အသင်တို့သည် ဘမဲ့ကလေးများ(၏ အသိအလိမ္မာ ဉာဏ်ပညာ)ကို ထိမ်းမြားရန် *အချိန်အရွယ်သို့ ရောက်ရှိလာကြသည့် တိုင်အောင်*[၁] စမ်းသပ်ကြလေကုန်၊ ထို့နောက် အကယ်၍ အသင်တို့သည် ထိုဘမဲ့ကလေးတို့၌ ဆင်ခြင်နိုင်သော အသိတရား(ရှိသည်)ကို တွေ့ရှိသော် ထိုဘမဲ့ကလေးတို့အား ထိုကလေးများ၏ ဥစ္စာပစ္စည်းများကို ပေးအပ်ကြလေကုန်။ ၎င်းပြင်အသင်တို့သည် ထိုဘမဲ့ကလေးများ၏ ဥစ္စာပစ္စည်းများကို ထိုကလေးများ ကြီးပြင်းလာကြမည်ကို စိုးရိမ်၍ အလဟဿ သုံးဖြုန်းခြင်းအားဖြင့်၎င်း၊ လျင်မြန်စွာ သုံးစွဲခြင်းဖြင့်၎င်း စားသုံးခြင်း မပြုကြကုန်လင့်။

၎င်းပြင် (ဘမဲ့ကလေးတို့အား အုပ်ထိန်းသော) အကြင်သူသည် ချမ်းသာကြွယ်ဝသူဖြစ်လျှင် ထိုသူသည် (ဘမဲ့ကလေးတို့၏ ဥစ္စာပစ္စည်းများကို စားသုံးခြင်းမှ)ရှောင်ကြဉ်ရပေမည်၊ သို့ရာတွင် (ဘမဲ့ကလေးတို့အားအုပ်ထိန်းသော) အကြင်သူသည် ဆင်းရဲနွမ်းပါးသူဖြစ်ပါလျှင် ထိုသူသည် (ထိုဘမဲ့ကလေးတို့၏ ဥစ္စာပစ္စည်းအနက်မှ) မလွှဲမရှောင်သာနိုင်သော ကိစ္စများအတွက် အသင့်အတင့် စားသုံးနိုင်ပေသည်။

---

(၂) ဥစ္စာပစ္စည်းသည် အလ္လာဟ်အရှင်မြတ်၏ အလွန်ကြီးမားသော ကျေးဇူးတော် တစ်ရပ်ပင်ဖြစ်ပေရာ လူသားတို့သည် ဥစ္စာပစ္စည်း၏ တန်ဖိုးကို သိနားလည်ကြရပေမည်။ ဤမုကဒ္ဒပါဠ်တော်ကို ထောက်ရှုခြင်းအားဖြင့် ဥစ္စာပစ္စည်းများကို စနစ်တကျ ထိန်းသိမ်းရမည့်အကြောင်း၊ စီမံခန့်ခွဲ သုံးစွဲရမည့်အကြောင်းနှင့် ဥစ္စာပစ္စည်းများကို အလဟဿ မဖြုန်းတီးရမည့်အကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။ ရှု-(ဂျဆွဲဆွာဆွဲ)

(၁) 'ဗုလူဃ်' အရွယ်ရောက်ခြင်း၏ နိမိတ်လက္ခဏာသည် မိန်းကလေးများအတွက် ရာသီပန်းပွင့်ခြင်းဖြစ်သည်၊ ယောကျာ်းလေးများအဘို့ သုတ်ထွက်ခြင်းဖြစ်သည်။ ဤနိမိတ်လက္ခဏာများ မရှိပါက ယောကျာ်းများအဘို့ အသက်(၁၈)နှစ်ပြည့်ခြင်း၊ မိန်းကလေးများအဘို့ အသက်(၁၇)နှစ်ပြည့်ခြင်းဖြစ်သည်။ အချို့ပညာရှင်များ၏ ယူဆချက်အရ မိန်းကလေးနှင့် ယောကျာ်းကလေး ၂-ဦးလုံးအတွက် ၁၅-နှစ်ပြည့်ခြင်းသည် အရွယ်ရောက်ခြင်းပင် ဖြစ်သည်ဟူ၏။ ဤအဆိုအတိုင်းပင် ဓမ္မသတ်ရှင်များသည် အဆုံးအဖြတ်ပေးကြသည်။ ထာနဝီ။

တဖန် အသင်တို့သည် ထိုဘမဲ့ကလေးတို့အား ထိုကလေးများ၏ဥစ္စာပစ္စည်းများကို ပြန်လည် ပေးအပ်ကြသောအခါ ထိုသူတို့(အားပြန်လည်ပေးခြင်း) အပေါ်၌ *အသိသက်သေများ ထားကြလေကုန်*၊ [၁] အမှန်သော်ကား အလ္လာဟ် အရှင်မြတ်သည်ပင် တွက်ချက် စစ်ဆေးတော်မူသည့် အရှင်အဖြစ် လုံလောက်တော်မူပေသတည်း။

لِلرِّجَالِ نَصِيبٌ مِّمَّا تَرَكَ الْوَالِدَانِ وَالْأَقْرَبُونَ وَلِلنِّسَاءِ نَصِيبٌ مِّمَّا تَرَكَ الْوَالِدَانِ وَالْأَقْرَبُونَ مِمَّا قَلَّ مِنْهُ أَوْ كَثُرَ نَصِيبًا مَّفْرُوضًا ⑦

၇။ (ကြီးငယ်မဆို) ယောကျ်ားများအတို့ မိဘနှစ်ပါးနှင့် (သွေးချင်းနီးစပ်သော)ဆွေမျိုးညာတကာတို့က ထားရှိခဲ့ကြသော (အမွေ)ပစ္စည်းများအနက်မှ ဝေစုဝေပုံသည် (သတ်မှတ်ပြီး)ဖြစ်၏။ ၎င်းပြင် (ကြီးငယ်မဆို) မိန်းမများအတို့လည်း မိဘနှစ်ပါးနှင့် သွေးချင်းနီးစပ်သော ဆွေမျိုး ညာတကာတို့က ထားရှိခဲ့ကြသော (အမွေ)ပစ္စည်းများအနက်မှ ဝေစုဝေပုံသည် (သတ်မှတ်ပြီး)ဖြစ်၏။

ထို(အမွေ ပစ္စည်းသည် နည်းသည်ဖြစ်စေ၊ များသည်ဖြစ်စေ အလ္လာဟ်အရှင်မြတ် အထံတော်မှ) သတ်မှတ်ပြဋ္ဌာန်း ထားတော်မူသော ဝေစုဝေပုံ တစ်ရပ်ဖြစ်သတည်း။

---

(၁) ဘမဲ့ကလေးများသည် အရွယ်ရောက်၍ လိမ္မာရေးခြားရှိကြသည့်အခါ ယင်းတို့၏ ပစ္စည်းများကို ပြန်လည် ပေးအပ်ကြရမည်၊ သို့ပေးအပ်ကြသောအခါ၌လည်း လောကီထုံးတမ်းစဉ်လာအတိုင်း သက်သေများထားရှိကြရမည်။ သက်သေများထားရှိခြင်းသည် လောကီထုံးတမ်းစဉ်လာအရ ပြုလုပ်ခြင်းမျှသာဖြစ်သည်။

အကြင်သူတစ်ဦးသည် လောကီ ထုံးတမ်းစဉ်လာအရ သက်သေထားပြီး ပေးကမ်းပါသည်ဟု ဆိုရာတွင် မရိုးသားသောသဘောဖြင့် လိမ်လည်မည်ဆိုပါက လောကတွင် လူသားတို့အား လိမ်လည်နိုင်စေကာမူ ထိုသူသည် အလ္လာဟ်အရှင်မြတ် ရှေ့တော်၌မှာမူကား လိမ်လည်နိုင်မည်မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် ထိုသူ၏ သစ္စာရှိမှု မရှိမှု အစုစုကို အကြွင်းမဲ့သိတော်မူသောအရှင် ဖြစ်တော်မူသောကြောင့်တည်း။

وَإِذَا حَضَرَ الْقِسْمَةَ أُولُوا الْقُرْبَىٰ وَالْيَتَامَىٰ وَالْمَسَاكِينُ فَارْزُقُوهُم مِّنْهُ وَقُولُوا لَهُمْ قَوْلًا مَّعْرُوفًا ⑧

၈။ ၎င်းပြင် (အမွေပစ္စည်း) ခွဲဝေရာ၌ (အမွေမရထိုက်သော) ဆွေမျိုး ညာတကာတို့သည်၎င်း၊ မိဘမဲ့ကလေးတို့သည်၎င်း၊ သူဆင်းရဲ တို့သည်၎င်း၊ ရှေ့မှောက်တွင် အသင့်ရောက်ရှိလာကြသည်ရှိသော် အသင်တို့သည် ထိုသူတို့အားလည်း ယင်း(အမွေပစ္စည်း)ထဲမှ (အနည်းငယ်မျှ) *ကျွေးမွေး ပေးကမ်းကြကုန်။* [၁] ၎င်းပြင် အသင်တို့သည် ထိုသူတို့အား *ကောင်းမွန်စွာ ပြောဆိုကြလေကုန်။* [၂]

وَلْيَخْشَ الَّذِينَ لَوْ تَرَكُوا مِنْ خَلْفِهِمْ ذُرِّيَّةً ضِعَافًا خَافُوا عَلَيْهِمْ فَلْيَتَّقُوا اللَّهَ وَلْيَقُولُوا قَوْلًا سَدِيدًا ⑨

၉။ ၎င်းပြင် အကြင်သူများသည် ကြောက်ရွံ့ကြရပေမည်။ အကယ်၍ ထိုသူများသည် မိမိတို့နောက်၌ အင်အားချည့်နဲ့သော ကလေးများကို စွန့်ထား(၍ သေဆုံး) ကြရသည်ရှိသော် *ထိုကလေးများနှင့် ပတ်သက်၍ စိုးရိမ်ပူပန်ကြပေမည်။* [၃] သို့ဖြစ်ပေရာ ထိုသူတို့သည် (ဘမဲ့ကလေးများနှင့် ပတ်သက်၍) အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့ကြရပေမည်။ ၎င်းပြင် (တရားမျှတသော) ဖြောင့်မတ်မှန်ကန်သော စကားကို ပြောဆိုကြရပေမည်။

---

(၁) အမွေပစ္စည်းခွဲဝေရာ၌ အမွေမဆိုင်သောသားချင်းများ၊ ဘမဲ့ကလေးများနှင့်သူဆင်းရဲများ ရောက်ရှိလာကြပါလျှင် ထိုသူများကိုလည်း သနားညာတာထောက်ထားခြင်းအားဖြင့် အမွေပစ္စည်း ထဲမှ အနည်းငယ် ပေးသင့်ပေသည်။

ဤအမိန့်သည် 'ဝါဂျစ်ဗ်' မုချလိုက်နာပြုကျင့်ရသော အမိန့်ပညတ်မဟုတ်ပေ၊ 'မုစ်တဟဗ္ဗ' ပြုသင့်ပြုထိုက်သော သင့်မြတ်သော နှစ်သက်ဘွယ်ကောင်းသော အမူကိစ္စ ပညတ်မျှသာဖြစ်သည်။

အမွေမဆိုင်သူတို့အား အမွေပစ္စည်းထဲမှ အနည်းငယ် ပေးကမ်းရာ၌ အရွယ်ရောက်သော အမွေဆိုင်သူတို့၏ အမွေထဲမှသာလျှင် ပေးပိုင်ခွင့်ရှိသည်။ အရွယ်မရောက်သေးသော ကလေးများ၏ အမွေထဲမှ ပေးပိုင်ခွင့် အလျင်းမရှိချေ။ ထာနဝီ။

(၂) အမွေပစ္စည်းထဲမှ အမွေမဆိုင်သော သားချင်းများ၊ ဘမဲ့ကလေးများနှင့် သူဆင်းရဲသားတို့အား ခွဲဝေပေးရန် အခွင့်အလမ်း မရှိပါသော် ဥပမာ အမွေခွဲဝေသော ပစ္စည်းများသည် ဘမဲ့ကလေးများ၏ ပစ္စည်းဖြစ်နေသည်ရှိသော် သေဆုံးသူကလည်း တစုံတရာ အလှူအတန်းပြုရန် ဝဆီယတ် မှာကြားသွားခြင်းမရှိသော် ထိုသူတို့အား ကျိုးကြောင်းပြ၍ အမွေပစ္စည်းထဲမှ မိမိတို့အလှူအတန်း မပြုနိုင်သည့်အကြောင်းကို ကောင်းမွန်ခြင်းစွာ ပြောကြားရမည်။

إِنَّ الَّذِينَ يَأْكُلُونَ أَمْوَالَ الْيَتَامَىٰ ظُلْمًا إِنَّمَا يَأْكُلُونَ فِي بُطُونِهِمْ نَارًا ۖ وَسَيَصْلَوْنَ سَعِيرًا ⑩

**၁၀။** မုချဧကန် အကြင်သူများသည် ဘမဲ့ကလေးများ၏ ဥစ္စာပစ္စည်းများကို မတရားသဖြင့် စားသုံးကြ၏။ မုချဧကန် ထိုသူများသည် မိမိတို့ ဝမ်းတွင်းသို့ မီး(ကျီမီးခဲ)ကိုသာလျှင် (ထည့်သွင်း) စားသုံးကြ၏။ ၎င်းပြင် ထိုသူများသည် မကြာမြင့်မီအတွင်း အလျှံပြောင်ပြောင် တောက်လောင်လျက်ရှိသော ငရဲသို့ သက်ဆင်းဝင်ရောက် လာကြရပေမည်။ [၁]

يُوصِيكُمُ اللَّهُ فِي أَوْلَادِكُمْ ۖ لِلذَّكَرِ مِثْلُ حَظِّ الْأُنثَيَيْنِ ۚ فَإِن كُنَّ نِسَاءً فَوْقَ اثْنَتَيْنِ فَلَهُنَّ ثُلُثَا مَا تَرَكَ ۖ وَإِن كَانَتْ وَاحِدَةً فَلَهَا

**၁၁။** (အို- "မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်းတို့) *အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား၊ အသင်တို့၏သားသမီးတို့နှင့်ပတ်သက်၍ (ဤသို့)အမိန့်ပေးတော်မူလေသည်။* [၂] (သား) ယောကျ်ားအတွက် (သမီး)မိန်းမနှစ်ယောက်၏ ဝေစုဝေပုံနှင့် ထပ်တူထပ်မျှ (ဝါ) *ယောကျ်ားကလေး၏ဝေစုဝေပုံမှာ မိန်းကလေး၏ဝေစုဝေပုံ၏ နှစ်ဆ ဖြစ်သည်။* [၃]

---

(၉) ဤအာယသ်တော်သည် မူရင်းသဘောအားဖြင့် ဘမဲ့ကလေးများကို အုပ်ထိန်းသောသူနှင့် ၎င်း၊ 'ဝဆီယတ်' မှာကြားခြင်းခံရသူနှင့်၎င်း သက်ဆိုင်ပေသည်။ ၎င်းပြင် အဆင့်ဆင့် အခြားသော သူများသည်လည်း ဤအာယသ်တော်ကို သတိပြုကာ လိုက်နာကြရပေသည်။

ဤအာယသ်တော်၏ ဆိုလိုရင်းသဘောမှာ မည်သူမဆို သေဆုံးပြီးနောက် မိမိ၏ သားသမီးများအား သူတပါးက နှိပ်စက်ကလူပြုမည်ကို စိုးရိမ်ပူပန်သည်သာဖြစ်၏။ သို့ဖြစ်ပေရာ လူတိုင်း လူတိုင်းသည် မိမိတို့ သေဆုံးကြပြီးနောက် မိမိ၏ကလေးများနှင့် ပတ်သက်၍ မိမိတို့ လိုလားနှစ်ခြိုက်သော ဆက်ဆံမှုမျိုးကို မိမိတို့ကိုယ်တိုင် အခြား ဘမဲ့ကလေးများနှင့် ဆက်ဆံရာတွင်လည်း လိုက်နာပြုလုပ်ကြရပေမည်။ (ဆိုလိုသည်ကား အရာရာတွင် စာနာခြင်း တရားထားကြရပေမည်)။

ဤအာယသ်တော်နှင့် စပ်လျဉ်း၍ အကျယ်ကို သိလိုပါသော သူတေသီများသည် အီဗ်နုဂျရီရ် ကျမ်းနှင့် အလ်မာနာရ်ကျမ်းတွင် ရှုနိုင်ကြပေသည်။

(၁) ဘမဲ့ကလေးများ၏ ဥစ္စာပစ္စည်းများကို မတရားသဖြင့် စားသုံးသောသူများ ခံစားကြရမည့် အပြစ်ဒဏ်နှင့် စပ်လျဉ်း၍ တမန်တော်မြတ်က အောက်ပါအတိုင်း မိန့်ကြားတော်မူခဲ့လေသည်။

သာဝကကြီး အဗူစအီဒ် အလ်ခုဒ်ရီသခင်ထံမှ ကြားသိရသည်မှာ တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လါဟု အလိုင်ဟိဝစလ္လမ်)က 'မိအ်ရာဂ်' ညဉ့်နှင့်စပ်လျဉ်း၍ ကျွန်ုပ်တို့အား (ဤသို့) ပြောကြားတော်မူသည်။ ကျွန်ုပ်မြင်ရသည်မှာ ရုတ်တရက် ကျွန်ုပ်သည် လူတစုထံ ရောက်ရှိသွား၏။ ထိုသူတို့၌ ကုလားအုဋ်၏ နဖားကြိုး ကဲ့သို့ နဖားကြိုးများ တပ်လျက်ရှိ၏။ ထိုသူများ၏ နဖားကြိုးကို ဆွဲကိုင်ရန် တာဝန် ➤➤

➤➤ လွှဲအပ်ခြင်း ခံရသူများလည်းရှိကြ၏။ ထို့နောက် ထိုတာဝန်ခံများသည် ထိုသူတို့၏ ခံတွင်းများတွင် မီးကျောက်ခဲကြီးကို ထည့်သွင်းကြ၏။

ထိုကျောက်မီးခဲကြီးများသည် ထိုသူများ၏အောက်ပိုင်းမှ ထွက်သွား၏။ ကျွန်ုပ်က အို-ဂျိဗ်ရီလ် ဤသူများကား မည်သူများနည်း ဟုမေးရာ ဂျိဗ်ရီလ်က “ဤသူများကား ဘမဲ့ကလေးများ၏ ဥစ္စာပစ္စည်းများကို မတရား စားသုံးသော သူများ၊ မိမိဝမ်းတွင်းသို့ ငရဲမီးကျီးမီးခဲများကို ထည့်သွင်း စားသုံးသောသူများ ဖြစ်ကြပါသည်” ဟု ဖြေကြားလေသည်။ (အီဗ်နုဂျရီရ်)။

② အမွေခွဲဝေခြင်းသည် အလွန်အရေးကြီးသော ပြဿနာ တရပ်ပင်ဖြစ်၏။ သက်ဆိုင်ရာ အမွေဆိုင်တို့၏ အသက်မွေးဝမ်းကျောင်းမှုသည် တနည်းအားဖြင့် တရားမျှတစွာ အမွေခွဲဝေခြင်းအပေါ်၌ တည်ရှိနေပေ၏။ ထို့အတွက်ကြောင့်ပင် ဉာဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်သည် မိမိကိုယ်တော်တိုင် အမွေခွဲဝေပုံကို သတ်မှတ်ပြဋ္ဌာန်း အတည်ပြုထားတော်မူသည်။

③ ယောကျ်ားကလေးတဦး၏ အမွေပိုင်ဆိုင်ခွင့်သည် မိန်းကလေးနှစ်ဦး၏ အမွေပိုင်ဆိုင်ခွင့်နှင့် ညီမျှသည်။

ဥပမာ– သေဆုံးသူတဦး၌ သားတယောက်၊ သမီးနှစ်ယောက်ရှိသော် အမွေပစ္စည်း၏ ထက်ဝက်သည် သားအဘို့ ဖြစ်သည်။ ကျန်တဝက်သည် သမီးနှစ်ယောက်အဘို့ဖြစ်သည်။ အကယ်၍ သားတယောက် သမီးတယောက်ရှိသော် အမွေပစ္စည်း၏ ၃ ပုံ ၂ ပုံမှာ သားအဘို့ဖြစ်သည်။ ကျန် ၃ ပုံ ၁ ပုံမှာ သမီးအဘို့ ဖြစ်သည်။

အစ္စလာမ်သာသနာ မထွန်းကားမီ အမိုက်ခေတ်တွင် မိန်းမများသည် အမွေပိုင်ဆိုင်ခွင့်မရှိခဲ့ပေ။ ယောကျ်ားများသာလျှင် အမွေပိုင်ဆိုင်ခွင့် ရှိခဲ့လေသည်။ ယောကျ်ားများတွင်လည်း အရွယ်ရောက်သော ယောကျ်ား၊ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်နိုင်သော ယောကျ်ားများသာလျှင် အမွေပိုင်ဆိုင်ခွင့်ရှိ၏။ ဤကား သဘာဝလည်းမကျ၊ တရားမျှတသော နည်းလမ်းလည်းမဟုတ်ပေ။

ယခုခေတ်တွင်လည်း အချို့လူများက ယောကျ်ားနှင့်မိန်းမ သာတူညီမျှ အမွေရသင့်သည်ဟု ပြောဆိုကြ၏။ ဤကဲ့သို့ ပြောဆိုခြင်းသည်လည်း သဘာဝမကျပေ။

အဘယ်ကြောင့်ဟူမူ အရှင်မြတ်၏ အလိုတော်အတိုင်း အမျိုးသမီးများ၏ ရုပ်ဆင်းသဏ္ဍာန်၊ ခန္ဓာကိုယ်အနေအထားသည် ယောကျ်ားများကဲ့သို့ တောင့်တင်း ကြံ့ခိုင်သည်မဟုတ်။ ကိုယ်နှုတ်အမူအရာ ပျော့ပြောင်းနွဲ့နှောင်း၍ အင်အားဗလ ချည့်နဲ့သော အမျိုးအစားများသာ ဖြစ်ကြသည်။

အမျိုးသမီးတို့မှာ ဓမ္မတာ ရာသီလာရခြင်း၊ အိမ်တွင်းကိစ္စ ဆောင်ရွက်ရခြင်း စသော ဗဟုကိစ္စများ ရှိနေသောကြောင့် အသက်မွေးဝမ်းကျောင်းမှုဖြစ်သော စီးပွားရေးကိစ္စကို ဆောင်ရွက်နိုင်ကြသည် မရှိချေ။ အမျိုးသမီးများသည် အိမ်တွင်းမှုကိုသာ တာဝန်ခံ၍ ထိန်းသိမ်းစောင့်ရှောက်ကြရ၏။ ယောကျ်ားသည်သာလျှင် မိမိဇနီး သားသမီးများနှင့်တကွ တအိမ်ထောင်လုံး၏ တာဝန်ကို ဆောင်ရွက်ရပေသည်။

ထို့အတွက်ကြောင့်ပင် အစ္စလာမ်တရားတော်က အသက်မွေးဝမ်းကျောင်းအတွက် ရှာဖွေမှုတာဝန်ကို ယောကျ်ား၏ တာဝန် ပြုလုပ်ထားလေသည်။

သို့ဖြစ်ပေရာ တာဝန်ကြီးသူအား တာဝန်ကြီးသည်နှင့်အညီ အမွေကို တဆပို၍ ပေးထားတော်မူခြင်း ဖြစ်သည်။ ဤသည် တရားမျှတသော စည်းကမ်းချက်ပင်ဖြစ်ပေသည်။

النِّصْفُ ۚ وَلِأَبَوَيْهِ لِكُلِّ وَاحِدٍ
مِّنْهُمَا السُّدُسُ مِمَّا تَرَكَ إِنْ
كَانَ لَهُ وَلَدٌ ۚ فَإِن لَّمْ يَكُن لَّهُ
وَلَدٌ وَوَرِثَهُ أَبَوَاهُ فَلِأُمِّهِ الثُّلُثُ ۚ
فَإِن كَانَ لَهُ إِخْوَةٌ فَلِأُمِّهِ
السُّدُسُ مِن بَعْدِ وَصِيَّةٍ
يُوصِي بِهَا أَوْ دَيْنٍ ۗ آبَاؤُكُمْ
وَأَبْنَاؤُكُمْ لَا تَدْرُونَ أَيُّهُمْ
أَقْرَبُ لَكُمْ نَفْعًا ۚ فَرِيضَةً
مِّنَ اللَّهِ ۗ إِنَّ اللَّهَ كَانَ

တဖန်အကယ်၍ (သမီး) မိန်းမများသည် နှစ်ဦးထက်ပိုခဲ့လျှင် ထိုသူတို့အတွက် (ကွယ်လွန်သူ) ထားရှိခဲ့သော (အမွေ) ပစ္စည်း၏ သုံးပုံနှစ်ပုံ *ဖြစ်ပေသည်။* [၁]

သို့ရာတွင် ယင်း (သမီး) မိန်းမသည် တဦးတည်းသာ ဖြစ်ခဲ့ပါမူ ၎င်း၏အဘို့ (ကွယ်လွန်သူထားရှိခဲ့သော အမွေပစ္စည်း၏) ထက်ဝက်ပင် ဖြစ်ချေသည်။ ၎င်းပြင် အကယ်၍ ယင်း (ကွယ်လွန်သူ)၌ သားသမီး တစုံတယောက် ရှိခဲ့ပါမူ ထို (ကွယ်လွန်)သူ၏ မိဘနှစ်ပါးတို့အနက် အသီးသီးတို့အတွက် (ကွယ်လွန်သူ၏ အမွေပစ္စည်းအနက်မှ) ခြောက်ပုံတပုံစီဖြစ်၏။ သို့ရာတွင် အကယ်၍ ထို (ကွယ်လွန်)သူ၌ သားသမီးတစုံတယောက်မျှမရှိ၍ မိဘနှစ်ပါးတို့သည်(သာလျှင်) ယင်း (ကွယ်လွန်သူ၏ အမွေကို ဆက်ခံခဲ့ကြပါမူ သို့ဖြစ်လျှင် ၎င်း (ကွယ်လွန်သူ)၏ အမိအဘို့မှာ သုံးပုံတပုံဖြစ်သည်။

---

(၁) ကွယ်လွန်သေဆုံးသူ၌ ကျန်ရစ်ခဲ့သောကလေးများမှာ အကယ်၍ သားယောကျ်ားတစ်ဦးတယောက်မျှ မရှိပါဘဲ မိန်းကလေးများသာလျှင် ဖြစ်ပြီး နှစ်ဦးထက်ပိုလျှင် ထိုမိန်းကလေးများ၏ အမွေမှာ ၃ ပုံ ၂ ပုံဖြစ်သည်။ မိန်းကလေးများနှစ်ဦးတည်းဖြစ်လျှင်လည်း ထိုမိန်းကလေးနှစ်ဦး၏ အမွေမှာ ၃ ပုံ ၂ ပုံဖြစ်ပေသည်။

သား၏ အမွေမှာ သမီးအမွေထက် ပို၏။ သမီးတယောက်၏ အမွေမှာ သားတယောက်နှင့် ယှဉ်တွဲ၍ အမွေခွဲရာတွင် ထိုသမီး၏ အမွေမှာ ၃ ပုံ ၁ ပုံဖြစ်၏။ သို့ဖြစ်ပေရာ သမီးတယောက်၏ အမွေသည် (သားအစား) အခြား သမီးတယောက်နှင့် ယှဉ်တွဲခွဲဝေရာ၌ ၃ ပုံ ၁ ပုံပင် ဖြစ်မည်မှာ မုချပင်ဖြစ်သည်။ သားယောကျ်ားကြောင့် သမီးတယောက်၏ အမွေမှာ မလျော့လျှင် သမီးကြောင့် အဘယ်သို့လျှင် လျော့သွားနိုင်အံ့နည်း။ ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် သမီးနှစ်ယောက်၏ အမွေမှာ ၃ ပုံ ၂ ပုံဖြစ်ကြောင်း အလိုအလျောက် သိနိုင်ပေသည်။

သမီးနှစ်ယောက်၏ အမွေမှာ ၃-ပုံ ၂-ပုံဖြစ်ပေရာ သမီး ၄-၅ ယောက်ဖြစ်လျှင် အမွေခွဲဝေပုံပိုမိုများလာမည်ဟု တွေးထင်ရန် အကြောင်းရှိလေသည်။ ဤသို့မတွေးထင်ရန်အလို့ငှါ သမီးနှစ်ယောက်၏ အမွေမှာလည်း ၃-ပုံ ၂-ပုံပင် ဖြစ်ကြောင်း သမီး ၂-ယောက်ထက် ပိုလျှင်လည်း ၃-ပုံနှင့် ၂-ပုံပင်ဖြစ်ကြောင်း ဤအာယသ်တော်တွင် အတည့်အလင်း မိန့်ဆိုထားတော်မူလေသည်။

عَلِيمًا حَكِيمًا ⑪

တဖန် (အကယ်၍) ယင်း(ကွယ်လွန်သူ) ၌ (မိဘနှစ်ပါးအပြင်) ညီအစ်ကို၊ မောင်နှမများလည်းရှိကြပါသော် ထို(ကွယ်လွန်)သူ၏ အမိအတွက်မှာကား ခြောက်ပုံတပုံသာ ဖြစ်၏။ (ယင်းကဲ့သို့ အမွေခွဲဝေခြင်း ကိစ္စသည်) ထို(ကွယ်လွန်)သူ မှာကြားခဲ့သော သေတမ်းစာအရ ဆောင်ရွက်ရန် ကိစ္စများကို ဆောင်ရွက်ပြီးနောက်၊ သို့တည်းမဟုတ် (ကွယ်လွန်သူ၏အပေါ်၌ တင်ရှိသော) ကြွေးမြီ ပေးဆပ်ပြီးမှသာလျှင် ခွဲဝေကြရမည်ဖြစ်သည်။

(စင်စစ်မှာမူကား) အသင်တို့၏အဘ (ဘိုး၊ ဘေး) များနှင့် အသင်တို့၏ သား(မြေး၊ မြစ်)များအနက် မည်သူသည် အကျိုးကျေးဇူး ဖြစ်ထွန်းစေခြင်းတွင် အသင်တို့နှင့် အနီးစပ်ဆုံးဖြစ်သည်ကို အသင်တို့သည် မသိနိုင်ကြချေ။ (သို့ဖြစ်ပေရာ ဤအမွေခွဲတမ်းသည်) အလ္လာဟ်အရှင်မြတ်အထံတော်မှ (အသင်တို့၏ ကောင်းကျိုးကို ထောက်ထားကာ) ပြဋ္ဌာန်းပြီးဖြစ်သော တာဝန်တရပ်ပင်။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော်မူသော အရှင်၊ အကျိုးအကြောင်းဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَلَكُمْ نِصْفُ مَا تَرَكَ أَزْوَاجُكُمْ إِنْ لَّمْ يَكُنْ لَّهُنَّ

၁၂။ ၎င်းပြင် အသင်တို့အတွက် အကယ်၍သာ အသင်တို့၏ ဇနီးမိန်းမများ၌ သားသမီး တစုံတယောက်မျှ မရှိခဲ့လျှင်၊ ထိုဇနီးမိန်းမများ ထားရှိခဲ့ကြသော *(အမွေ)ပစ္စည်း၏ ထက်ဝက်ပင်ဖြစ်သည်။* ①

① ခင်ပွန်းသည် မိမိဇနီး၏ အမွေပစ္စည်းအနက် အကယ်၍ ထိုဇနီး၌ သားသမီးမရှိလျှင် ၂-ပုံ ၁-ပုံ ဆိုင်သည်။ အကယ်၍ ထိုဇနီး၌ သားသမီးရှိလျှင် ၄-ပုံ ၁-ပုံ ဆိုင်သည်။ ဇနီး၌ကျန်ရစ်ခဲ့သော ➤➤

وَلَدٌ ۚ فَإِنْ كَانَ لَهُنَّ وَلَدٌ
فَلَكُمُ الرُّبُعُ مِمَّا تَرَكْنَ مِنْ
بَعْدِ وَصِيَّةٍ يُوصِينَ بِهَا
أَوْ دَيْنٍ ۚ وَلَهُنَّ الرُّبُعُ مِمَّا
تَرَكْتُمْ إِنْ لَمْ يَكُنْ لَكُمْ وَلَدٌ ۚ
فَإِنْ كَانَ لَكُمْ وَلَدٌ فَلَهُنَّ
الثُّمُنُ مِمَّا تَرَكْتُمْ مِنْ بَعْدِ
وَصِيَّةٍ تُوصُونَ بِهَا أَوْ دَيْنٍ ۗ
وَإِنْ كَانَ رَجُلٌ يُورَثُ كَلَالَةً
أَوِ امْرَأَةٌ وَلَهُ أَخٌ أَوْ أُخْتٌ
فَلِكُلِّ وَاحِدٍ مِنْهُمَا السُّدُسُ ۚ

တဖန် အကယ်၍ ယင်းဇနီးမိန်းမတို့၌ သားသမီးတစ်စုံတစ်ယောက် ရှိခဲ့ပါမူ အသင်တို့အတွက် ထိုဇနီးမိန်းမများ ထားရှိခဲ့ကြသော(အမွေ) ပစ္စည်းများအနက်မှ လေးပုံတစ်ပုံသာ ဖြစ်ချေသည်။ (သို့ရာတွင် ၎င်းအမွေပစ္စည်း တို့ကို) ထိုဇနီးမိန်းမများက မှာကြားခဲ့ကြသော သေတမ်းစကား (သို့မဟုတ် သေတမ်းစာအရ ဆောင်ရွက်ရန်ကိစ္စများ) ကို ဆောင်ရွက်ပြီးနောက်၎င်း၊ (ထိုဇနီးသည်တို့ အပေါ်ဝယ် တင်ရှိနေသော)ကြွေးမြီများကို ဆပ်ပြီးနောက်တွင်၎င်း၊ (ခွဲဝေရပေမည်)။

၎င်းပြင် အကယ်၍ အသင်တို့၌ သားသမီးတစ်စုံတစ်ယောက် မရှိခဲ့ပါလျှင်၊ အသင်တို့ ထားရှိခဲ့ကြသော (အမွေ) ပစ္စည်းများအနက်မှ ၎င်းဇနီးမိန်းမတို့အတွက် လေးပုံတစ်ပုံသည် ဖြစ်သည်။

တဖန် အကယ်၍ အသင်တို့၌ သားသမီးတစ်စုံတစ်ယောက် ရှိခဲ့ပါသော် ထိုဇနီးမိန်းမတို့ အတွက် အသင်တို့ ထားရှိခဲ့ကြသော (အမွေ) ပစ္စည်းများအနက်မှ ရှစ်ပုံတစ်ပုံ (သာ)ဖြစ်သည်။

---

➤➤ သားသမီး များသည် တစ်ဦးဖြစ်စေ၊ အများဖြစ်စေ၊ သားဖြစ်စေ၊ သမီးဖြစ်စေ ထိုခင်ပွန်းနှင့်ရသော သားသမီးဖြစ်စေ၊ အခြားခင်ပွန်းနှင့် ရသော သားသမီးဖြစ်စေ အတူတူပင်ဖြစ်သည်။

ဇနီးမိန်းမသည် လင်ခင်ပွန်း၏ အမွေပစ္စည်းအနက် အကယ်၍ ထိုလင်ခင်ပွန်း၌ သားသမီးမရှိလျှင် ၄-ပုံ ၁-ပုံ ဆိုင်သည် အကယ် ထိုလင်ခင်ပွန်း၌ သားသမီးရှိလျှင် ၈-ပုံ ၁-ပုံ သာလျှင် ဆိုင်သည်။ လင်ခင်ပွန်း၌ ကျန်ရစ်ခဲ့သော သားသမီးများသည် တစ်ဦးဖြစ်စေ၊ အများဖြစ်စေ၊ သားဖြစ်စေ၊ သမီးဖြစ်စေ၊ ထိုဇနီးနှင့်ရသော သားသမီးဖြစ်စေ၊ အခြားဇနီးနှင့်ရသော သားသမီးဖြစ်စေ အတူတူပင် ဖြစ်သည်။

**မှတ်ချက်**

ဇနီးမိန်းမများ၏ 'မဟရ်'သည် လင်ခင်ပွန်း၏ ကျန်ရစ်ခဲ့သော အမွေပစ္စည်းနှင့် မည်သို့မျှ မသက်ဆိုင်ချေ။ ကြွေးမြီစာရင်းတွင် ပါဝင်သည်။

فَإِنْ كَانُوٓا أَكْثَرَ مِنْ ذٰلِكَ فَهُمْ شُرَكَآءُ فِي الثُّلُثِ مِنْ بَعْدِ وَصِيَّةٍ يُّوصٰى بِهَآ أَوْ دَيْنٍ

(သို့ရာတွင် ယင်း အမွေပစ္စည်းတို့ကို) အသင်တို့မှာကြားခဲ့သော သေတမ်းစကား(သို့မဟုတ် သေတမ်းစာအရ ဆောင်ရွက်ရန် ကိစ္စများ)ကို ဆောင်ရွက်ပြီးနောက်ငှင်း၊ (အသင်တို့အပေါ်ဝယ် တင်ရှိသော) ကြွေးမြီကို ပေးဆပ်ပြီးနောက်ငှင်း၊ ခွဲဝေရမည်။

ထို့ပြင်တဝ အမွေထားရှိခဲ့သော အကြင် ယောကျ်ားတစ်ဦးတစ်ယောက်ဖြစ်စေ၊ အကြင်မိန်းမ တစ်ဦးတစ်ယောက်ဖြစ်စေ၊ (မိဘနှင့် သားသမီး မရှိဘဲ) ထိုသူ(သို့မဟုတ် ထိုသူမ)၌ (မိတူဘကွဲ)ညီ (သို့မဟုတ် မောင် သို့မဟုတ်)အစ်ကိုတဦးတယောက် သော်ငှင်း၊ (မိတူဘကွဲ)နှမ (သို့မဟုတ် ညီ သို့မဟုတ် အစ်မ) တစ်ဦးတစ်ယောက်သော်ငှင်း ရှိခဲ့သော်၊ ထို (အစ်ကို၊ မောင်၊ နှစ်မ) နှစ်ဦးတို့အနက် *အသီးသီးတို့အတွက် ခြောက်ပုံတစ်ပုံစီဖြစ်၏။* ၁

---

(၁) 'ကလာလဟ်'ဟူသည် အကြင်သေဆုံးသော ယောကျ်ား သို့မဟုတ် မိန်းမများကို ဆိုလိုသည်။ ထိုယောကျ်ား သို့မဟုတ် မိန်းမတွင် မိဘသားသမီးဟူ၍ တစ်ဦးတစ်ယောက်မျှ မကျန်ရစ်ခဲ့ပေ။ (ဝါ) ထိုမိန်းမ သို့မဟုတ် ထိုယောကျ်ားတွင် 'အုဆူလ်' အထက်ဆက်လည်းမကျန်ရစ်ခဲ့ပေ။ 'ဖုရူအ်' အောက်ဆက်လည်း မကျန်ရစ်ခဲ့ပေ။ (ထာနဝီ)။

ဤအာယသ်တော်တွင် မိတူဘကွဲ ညီအစ်ကို မောင်နှမများ၏ အမွေပိုင်ဆိုင်ပုံ မိန့်ဆိုထားတော်မူသည်။ သေဆုံးသူ၌ အဘသော်ငှင်း၊ သားသော်ငှင်း၊ ကျန်ရှိခဲ့သော် သေဆုံးသူ၏ ညီအစ်ကို မောင်နှမများသည် အမွေမဆိုင်ကြပေ။ သေဆုံးသူ၌ အဘသော်ငှင်း၊ သားသော်ငှင်း၊ မကျန်ရစ်ခဲ့ပါမူ ညီအစ်ကိုမောင်နှမများသည် အမွေဆိုင်ကြပေသည်။

ညီအစ်ကိုမောင်နှမများသည် သုံးမျိုးသုံးစားရှိသည်။

(၁) (အိုင်နီ) မိတူဘတူ ညီအစ်ကို မောင်နှမများ။

(၂) (အလ္လာတီ) ဘတူမိကွဲ ညီအစ်ကို မောင်နှမများ။

(၃) (အခ်ယာဖီ) မိတူဘကွဲ ညီအစ်ကို မောင်နှမများ။

ဤအာယသ်တော်တွင် ဖော်ပြပါ ညီအစ်ကိုမောင်နှမ သုံးမျိုးအနက် တတိယအမျိုးအစားဖြစ်သော မိတူဘကွဲ ညီအစ်ကို မောင်နှမများကိုသာ ဆိုလိုသည်။ အဘယ်ကြောင့်ဆိုသော် များစွာသော ➤➤

غَيْرَ مُضَآرٍّ وَصِيَّةً مِّنَ اللَّهِ

တဖန် အကယ်၍ ယင်း (မိတူဘကွဲ ညီအစ်ကို၊ မောင်၊ နှမ)တို့သည် တစ်ဦးထက်ပိုခဲ့ပါမူ ၎င်းတို့သည် သုံးပုံတစ်ပုံတွင် (ညီတူညီမျှ သက်ဆိုင်သော) အစုရှင်များ ဖြစ်ကြကုန်၏။ (ယင်းသို့ ခွဲဝေခြင်းကို) မှာကြားပြီးဖြစ်သော သေတမ်းစကား (သို့မဟုတ် သေတမ်းစာအရ ဆောင်ရွက်ရန်ရှိသော ကိစ္စများ)ကို ဆောင်ရွက်ပြီးနောက်၎င်း၊ (ပေးဆပ်ရန်ရှိသော) ကြွေးမြီများကို ပေးဆပ်ပြီးနောက်၎င်း၊ ပြုရပေမည်။ သို့ရာတွင် (မှာကြားသွားသူသည်) (သက်ဆိုင်ရာ အမွေစားတို့အား မိမိမှာကြားခြင်းဖြင့် *နစ်နာဆုံးရှုံးအောင် မဖြစ်စေခဲ့သည်ရှိသော်)*။ ၁

---

➤➤ သာဝကကြီးများ၏ (قرا ء ة) ဖတ်နည်းတွင် ( وَلَهُۥٓ أَخٌ أَوْ أُخْتٌ ) ဟူသော ဝါကျ၏ နောက်တွင် ( مِنَ ا لْأُ مِّ ) 'အမိဘက်မှ' ဟူသော ပုဒ်ပါရှိလေသည်။ ၎င်းပြင် မွတ်စ်လင်မ်ပညာရှင် သုခမိန်များ အားလုံးကလည်း ဤအတိုင်းပင် ယူဆကြသည်။

(ညီအစ်ကိုမောင်နှမ သုံးမျိုးအနက် ပဌမနှင့် ဒုတိယ အမျိုးအစားဖြစ်သော မိတူဘတူ ညီအစ်ကို မောင်နှမများနှင့် ဘတူမိကွဲ ညီအစ်ကို မောင်နှမများ၏ အမွေဆိုင်ပုံကို ဤကဏ္ဍ၏နောက်ဆုံး 'အာယသ်' တွင် မိန့်ဆိုထားတော်မူသည်ကို တွေ့ရှိနိုင်ပေသည်)။

ဤအာယသ်တော်အရ မိဘသားသမီး မကျန်ရစ်ခဲ့ဘဲ သေဆုံးသူ ယောကျာ်း သို့မဟုတ် မိန်းမ တစ်ဦးတစ်ယောက်၌ မိတူဘကွဲညီ သို့မဟုတ် မောင်တစ်ယောက်သော်လည်းကောင်း၊ အစ်မ သို့မဟုတ် နှမ သို့မဟုတ် ညီမ တစ်ယောက်သော်လည်းကောင်း ကျန်ရစ်ခဲ့သော် ထိုကျန်ရစ်သူသည် အမွေပစ္စည်း၏ ၆-ပုံ ၁-ပုံ ဆိုင်ပေသည်။

အကယ်၍ မိတူဘကွဲ ညီအစ်ကို မောင်နှမများသည် တစ်ယောက်ထက်ပိုကြလျှင် ထိုညီအစ်ကို မောင်နှမအားလုံးတို့သည် အမွေပစ္စည်းများ၏ ၃-ပုံ ၁-ပုံ တွင် ညီတူညီမျှ ပိုင်ဆိုင်ကြသည်။ မိတူဘကွဲ ညီအစ်ကို မောင်နှမများသည် အဆိုပါ အမွေပိုင်ဆိုင်ရာတွင် ကျား၊မ မခြား အပိုအလျော့မရှိ ညီတူညီမျှ ဖြစ်ကြပေသည်။

(၁) သေဆုံးသူ၏ 'ဝဆီယတ်' သေတမ်းစာသည် သက်ဆိုင်ရာ အမွေစားတို့အား နစ်နာဆုံးရှုံးမှု မဖြစ်စေမှသာလျှင် တရားဝင်ဖြစ်ပေမည်။

သေတမ်းစာဖြင့် အမွေစားတို့အား နစ်နာစေမှုမှာ ဥပမာ-သေဆုံးသူသည် အမွေပစ္စည်း၏ ၃-ပုံ ၁-ပုံထက် ပိုမို၍ မှာကြားခြင်း၊ အမွေရရှိသော အမွေဆိုင်တစ်ဦးအတွက် မှာကြားခြင်း၊ ဖြစ်သည်။ ဤသို့မဖြစ်သင့်ချေ။ သို့ရာတွင် သက်ဆိုင်ရာ အမွေဆိုင်တို့က ကျေနပ်ကြသော် ထိုသေတမ်းစာသည် အတည် ဖြစ်ချေမည်။ သို့မဟုတ်ပါမူ ထိုသေတမ်းစာသည် အတည်ဖြစ်မည်မဟုတ်ပေ။ ➤➤

وَاللّٰهُ عَلِيْمٌ حَلِيْمٌ ﴿١٢﴾

(ဤသည်ကား) အလ္လာဟ် အရှင်မြတ် အထံတော်မှ (ထုတ်ပြန်တော်မူသော) အမိန့်တော်ပင်တည်း။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ် သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော် မူသောအရှင်၊ အလွန်တရာမှ သည်းခံတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။ [၁]

---

➤➤ **မှတ်ချက်**

အချို့ အမွေဆိုင်များသည် သေဆုံးသူ၏ ကြွေးမြီနှင့် မှာကြားချက်ကို လျစ်လျူရှုပြီး လောဘရမ္မက်ဖြင့် သေဆုံးသူ၏ အမွေပစ္စည်းအားလုံးကို သိမ်းပိုက်ထားတတ်ကြသည်။ ထို့အတွက်ကြောင့်ပင်လျှင် အမွေခွဲတမ်းနှင့်တွဲ၍ သေဆုံးသူ၏မှာကြားချက်နှင့် ကြွေးမြီများကို လျစ်လျူမရှုရမည့်အကြောင်း အကြိမ်ကြိမ် မိန့်ဆိုထားတော်မူခြင်း ဖြစ်သည်။

သေဆုံးသူ၌ ကြွေးမြီတင်ရှိနေသော် သက်ဆိုင်ရာကြွေးရှင်သည် မိမိ၏ကြွေးမြီကို တောင်းဆိုမည်ပင်ဖြစ်သည်။ မှာကြားချက်သည် စေတနာအလျောက် အလှူဒါန တစ်ခုဖြစ်သည့်အပြင် များသောအားဖြင့် ပုဂ္ဂလိက တစ်ဦးအတွက် မဖြစ်တတ်ဘဲ ဓမ္မဒိဋ္ဌာန်သာဖြစ်တတ်ပေရာ အဆိုပါ မှာကြားချက်နှင့် စပ်လျဉ်း၍ တောင်းဆိုမည့်သူ မရှိသည့်အတွက် ပျက်ပြယ် သွားတတ်ပေသည်။ ထို့အတွက်ကြောင့် ကြွေးမြီသည် မှာကြားချက်ထက်ပင် အရေးကြီးလင့်ကစား မှာကြားချက်သည်လည်း တနည်းအားဖြင့် အရေးကြီးကြောင်းကို ထင်ရှားစေရန် အလို့ငှာ ကုရ်အာန်ကျမ်းမြတ်တွင် ကြွေးမြီအလျင် သုံးထားတော်မူခြင်းဖြစ်သည်။

(၁) ကုရ်အာန်ကျမ်းမြတ် (၄း၁၁-၁၂)တွင် အမွေဆိုင်တို့အနက် သားသမီး မိဘ လင်မယားနှင့် မိတ္တူဘက်ကွဲ မောင်နှမများ၏ အမွေခွဲတမ်းကို မိန့်ဆိုထားတော်မူ၏။ ဤအမွေဆိုင်တို့အား 'ဿဝုလ်ဖုရူဿ်' ဟူ၍ ခေါ်၏။ ယင်းကဲ့သို့ အမွေခွဲတမ်းကို မိန့်ဆိုတော်မူပြီးသည့်နောက် ဤခွဲတမ်းသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြစ်ကြောင်း၊ အလ္လာဟ်အရှင်မြတ်သည် သဗ္ဗညုတဉာဏ်တော်နှင့် ပြည့်စုံတော်မူသည့်အကြောင်း၊ အလွန်တရာမှ ခမာဂုဏ်နှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူသည့်အကြောင်းကို မိန့်ဆိုထားတော်မူသည်။ ဆိုလိုသည်ကား အမွေခွဲတမ်းသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြစ်ပေရာ ထိုအမိန့်တော်ကို ဦးလည်မသုံ လိုက်နာကျင့်သုံးရပေမည်။ အလ္လာဟ်အရှင်မြတ်သည် သဗ္ဗညုတဉာဏ်တော်ရှင်ဖြစ်တော်မူပေရာ အမွေခွဲတမ်းနှင့် စပ်လျဉ်း၍ အမိန့်တော်နာခံသူကိုင်း၊ သွေဖည်သူကိုင်း၊ မှာကြားချက် ကြွေးမြီနှင့် စပ်လျဉ်း၍ တရားသဖြင့် ဆောင်ရွက်သူကိုင်း၊ မတရားပြုသူကိုင်း၊ မှာကြားရာတွင် အမွေစားတို့အား နစ်နာစေသော သူကိုင်း၊ နစ်နာအောင် မပြုသောသူကိုင်း၊ အားလုံးတို့ကို အကြွင်းမဲ့သိတော်မူပေသည်။ အလ္လာဟ်အရှင်မြတ်သည် ခမာဂုဏ်နှင့် ပြည့်စုံတော်မူသော အရှင်မြတ်ဖြစ်တော်မူပေရာ အပြစ်ဒဏ်ခတ်တော်မူရာ၌ ဆိုင်းငံ့၍ ပြစ်ဒဏ်ခတ်တော်မူသည်၊ ဤသည့်အချက်ကို လူသားတို့သည် အမှုမဲ့ အမှတ်မဲ့ မနေအပ်ပေ။ အဘယ်ကြောင့်ဟူမူ ဤအာယသ်တော်နှင့် ပူးတွဲ၍ ကုရ်အာန်ကျမ်းမြတ် (၄း၁၃-၁၄)တွင် အမိန့်တော်နာခံသော သူများသည် ဂျန္နတ်တွင် ထာဝစဉ် စံမြန်းနေရမည့်အကြောင်း၊ အမိန့်တော်ကို ငြင်းဆန်သောသူများသည် အလွန်ဆိုးရွားလှသော ငရဲ၌ ထာဝစဉ် ခံစားရမည့်အကြောင်းကို အတည့်အလင်း မိန့်ဆိုထားတော်မူခြင်းကြောင့်တည်း။

تِلْكَ حُدُوْدُ اللّٰهِ ۭ وَمَنْ يُّطِعِ اللّٰهَ وَرَسُوْلَهٗ يُدْخِلْهُ جَنّٰتٍ تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ خٰلِدِيْنَ فِيْهَا ۭ وَذٰلِكَ الْفَوْزُ الْعَظِيْمُ ﴿١٣﴾

၁၃။ ဤသည်တို့သည် အလ္လာဟ် အရှင်မြတ် (သတ်မှတ်ပြဋ္ဌာန်းတော်မူသော)စည်းမျဉ်းဥပဒေများ ပင်တည်း၊

အမှန်သော်ကား အကြင် မည်သူမဆို အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကိုငင်း၊ ထိုအရှင်မြတ်၏ ရစူလ် တမန်တော်မြတ်၏အမိန့်တော်များကိုငင်း၊ လိုက်နာပါမူ ထိုအရှင်မြတ်သည် ၎င်းအား အကြင် ဥယျာဉ်များသို့ ဝင်ရောက်စေတော်မူအံ့။ ယင်းဥယျာဉ်များအောက်၌ စမ်းရေချောင်းများသည် စီးတွေလျက် ရှိသည်။ ထိုသူတို့သည် ၎င်းဥယျာဉ်များ၌ နေထိုင် စံမြန်းလျက် ရှိကြမည်။

အမှန်စင်စစ် ဤ(ကဲ့သို့ ဝင်ရောက်နေထိုင် စံမြန်းရခြင်း)သည်ကား ကြီးကျယ်လှစွာသော အောင်မြင်မှုပင်တည်း။

وَمَنْ يَّعْصِ اللّٰهَ وَرَسُوْلَهٗ وَيَتَعَدَّ حُدُوْدَهٗ يُدْخِلْهُ نَارًا خَالِدًا فِيْهَا ۠ وَلَهٗ عَذَابٌ مُّهِيْنٌ ﴿١٤﴾

၁၄။ သို့ရာတွင် အကြင် မည်သူမဆို အလ္လာဟ် အရှင်မြတ်၏ အမိန့်တော် များကိုငင်း၊ ထို အရှင်မြတ်၏ ရစူလ် တမန်တော်၏ အမိန့်တော် များကိုငင်း၊ သွေဖည် ငြင်းပယ်၍ ထို အရှင်မြတ်၏ စည်းမျဉ်း ဥပဒေများကိုလည်း ကျူးကျော် ဖောက်ဖျက်သည်ရှိသော် ထိုအရှင်မြတ်သည် ၎င်းသူအား (ငရဲ) မီးထဲသို့ ဝင်ရောက်စေတော်မူအံ့။ ထိုသူသည် ယင်း (ငရဲမီး) ထဲ၌ ထာဝစဉ် နေထိုင်ရပေမည်။ ၎င်းပြင် ထိုသူအဘို့ ဂုဏ်အသရေ ပျက်ပြားစေသော အပြစ်ဒဏ်သည်လည်းရှိအံ့။

وَالّٰتِىۡ يَاۡتِيۡنَ الۡفَاحِشَةَ مِنۡ نِّسَآٮِٕكُمۡ فَاسۡتَشۡهِدُوۡا عَلَيۡهِنَّ اَرۡبَعَةً مِّنۡكُمۡ‌ ۚ فَاِنۡ شَهِدُوۡا فَاَمۡسِكُوۡهُنَّ فِى الۡبُيُوۡتِ حَتّٰى يَتَوَفّٰٮهُنَّ الۡمَوۡتُ اَوۡ يَجۡعَلَ اللّٰهُ لَهُنَّ سَبِيۡلًا ‏﴿۱۵﴾

**၁၅။** ထို့ပြင်တဝ အသင်တို့၏ ဇနီးမိန်းမတို့ အနက်မှ အကြင်မိန်းမတို့သည် *ကာမေသုမိစ္ဆာစာရကံ* ကို [၁] ကျူးလွန်ကြပါလျှင်၊ အသင်တို့သည် ထိုဇနီးမိန်းမများ အပေါ်၌ မိမိတို့အနက်မှ (ယောကျာ်း) လေးယောက်တို့ကို သက်သေထားရှိကြလေကုန်။

အကယ်၍ ထိုသူ လေးဦးတို့က (အမှန် အကန်) သက်သေ ခံခဲ့ကြပါမူ အသင်တို့သည် ယင်းမိန်းမတို့အား အိမ်များအတွင်း၌ ထိုသူမတို့ အသက်သေဆုံးသည့် တိုင်အောင်ဖြစ်စေ၊ သို့တည်း မဟုတ် အလ္လာဟ် အရှင်မြတ်သည် ထိုသူမတို့အတို့ တစ်စုံတစ်ရာ နည်းလမ်းကို ပြုလုပ်ပေးသည့် တိုင်အောင်ဖြစ်စေ၊ *အကျဉ်းချထားကြလေကုန်။* [၂]

---

(၁) 'အလ်ဖာဟိရှဟ်' ဟူသည် အလွန်တရာ စက်ဆုပ်ရွံရှာဘွယ်ဖြစ်သော အပြုအမူ အပြောအဆိုများကိုဆိုသည်။ သို့ရာတွင် ဤနေရာ၌ 'အလ်ဖာဟိရှဟ်' ဟူသည် 'ဇိနာ' ကာမေသုမိစ္ဆာစာရကံကိုသာ ဆိုလိုသည်။ မုချဧကန် 'အလ်ဖာဟိရှဟ်' ဟူသည် ဤနေရာ၌ 'ဇိနာ' ကာမေသုမိစ္ဆာစာရကံကိုသာ ဆိုလိုသည်။ (ကဗီရ်)။

(၂) အစ္စလာမ် သာသနာ ထွန်းကားခါစ အချိန်တွင် ကာမေသုမိစ္ဆာစာရကံ ကျူးလွန်မှု၏ အပြစ်ဒဏ်မှာ ဇနီးမိန်းမများဖြစ်လျှင် အိမ်တွင် တစ်သက်တာ အကျဉ်းချထားခြင်းပင်ဖြစ်သည်။ ထိုဇနီးမိန်းမများအပြင် ကာမေသုမိစ္ဆာစာရကံ ကျူးလွန်သော အခြား မိန်းမ၊ ယောကျာ်းများကိုကား အစ္စလာမ်အစိုးရ အာဏာပိုင်များက ပြစ်တင် ကြိမ်မောင်း၍၎င်း၊ ရိုက်နှက်၍၎င်း၊ ဆုံးမခြင်းပင်ဖြစ်သည်။ ထို့နောက် မကြာမီအတွင်း ကုရ်အာန်ကျမ်းလာ အာယသ်တော် (၂၄း၂) ကျရောက်လာလေသည်။ ထိုအာယသ်တော်အရ ကာမေသုမိစ္ဆာစာရကံ ကျူးလွန်သော မိန်းမယောကျာ်းများ၏ ပြစ်ဒဏ်မှာ ကြိမ်ဒဏ်တရာတိတိ ရိုက်ခြင်းပင်ဖြစ်သည်။ ပြီးနောက် တဖန် နဗီတမန်တော်မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုက်ဟိဝစလ္လမ်)က ဤအာယသ်တော်တွင်ပါရှိသော ကြိမ်ဒဏ်တရာသည် တရားတော်အရ မထိမ်းမြား ရသေးသော အပျို လူပျိုများ အတွက်သာ ဖြစ်ကြောင်း၊ တရားတော်အရ ထိမ်းမြားပြီးသော လင်ရှိ မိန်းမ၊ မယားရှိ ယောကျာ်းများအတို့မှာကား 'ရဂျ်မ်' သေသည့်တိုင်အောင် ခဲဖြင့် ပစ်ပေါက်သတ်ခြင်း ပင်ဖြစ်ကြောင်း ရှင်းပြထားတော်မူလေသည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ အကျယ်ကို ဟိဒါယတ်ကျမ်းတွင် ရှုပါကုန်။

**မမှတ်။**

ကာမေသုမိစ္ဆာစာရကံ ကျူးလွန်သူအား အပြစ်ဒဏ် ပေးပိုင်ခွင့်အာဏာသည် အစ္စလာမ်အစိုးရ အာဏာပိုင်များ၌သာလျှင် တည်ရှိပေသည်။ အခြားသူတစ်ဦးတစ်ယောက်၌ ဤအခွင့်အာဏာ မရှိပေ။ (ထာနဝီ)။

ကာမေသုမိစ္ဆာစာရကံ ကျူးလွန်မှုနှင့် စပ်လျဉ်း၍ မျက်မြင် သက်သေထွက်ဆိုသော ➢➢

وَالَّذٰنِ يَاْتِيٰنِهَا مِنْكُمْ فَاٰذُوْهُمَا ۚ فَاِنْ تَابَا وَاَصْلَحَا فَاَعْرِضُوْا عَنْهُمَا ؕ اِنَّ اللّٰهَ كَانَ تَوَّابًا رَّحِيْمًا ⑯

၁၆။ ၎င်းပြင် အသင်တို့ အနက်မှ အကြင်သူ နှစ်ဦးတို့သည် [၁] ယင်း ကာမေသု မိစ္ဆာစာရကံကို ကျူးလွန်ကြပါမူ အသင်တို့သည် ထိုသူနှစ်ဦးကို ဒုက္ခပေးကြလေကုန်။

တဖန် အကယ်၍ ထိုသူတို့နှစ်ဦးသည် (နောင်တတရားရရှိကာ မိမိတို့အပြစ်မှ လွတ်ငြိမ်းချမ်းသာခွင့် ရရှိခြင်းငှါ) ဝန်ချတောင်းပန်ကြ၍ (မိမိတို့ကိုယ်ကို) ပြုပြင်သွား ခဲ့ကြပါမူ အသင်တို့သည် ယင်းသူတို့ နှစ်ဦး(အား ဒုက္ခပေးခြင်း)မှ ရှောင်ရှားကြလေကုန်။ [၂] ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် (ဝန်ချတောင်းပန်သူများဘက်သို့) အကြိမ်ကြိမ် ကရုဏာတော်နှင့် ပြန်လှည့်တော်မူသော အရှင်၊ အလွန် သနားညှာတာတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူလေသတည်း။

➤➤ ယောကျ်ား၄-ဦးတို့သည် မွတ်စ်လင်မ်ဖြစ်ခြင်း၊ အသိဉာဏ်ရှိခြင်း၊ အရွယ်ရောက်ခြင်း၊ ကြွေးကျွန်မဟုတ် လွတ်လပ်သူဖြစ်ခြင်း၊ တည်းဟူသော အင်္ဂါရပ်တို့နှင့် ပြည့်စုံကြရမည်။ (ထာနဝီ)။

(၁) 'အကြင်သူနှစ်ဦး' ဟူသောပုဒ်တွင် ထိမ်မြားပြီးသူ၊ မထိမ်းမြားရသေးသောသူ၊ ယောကျ်ား၊ မိန်းမ၊ အားလုံး အကျုံးဝင်လျက်ရှိပေသည်။

(၂) ကာမေသုမိစ္ဆာစာရကံ ကျူးလွန်သောသူများသည် တရားတော်အရ အပြစ်ဒဏ်စီရင်ခြင်းကို ခံကြရပြီးသည့်နောက် ဝန်ချတောင်းပန်၍ မိမိတို့ ကိုယ်ကို ပြုပြင်ပြီး ကောင်းမွန်စွာ နေထိုင်သွားကြပါလျှင် ထိုသို့သော သူတို့အား ဆက်လက်၍ ကဲ့ရဲ့ပြစ်တင်ခြင်းမှ ရှောင်ရှားကြရပေမည်။

**မှတ်ချက်။**

ကာမေသု မိစ္ဆာစာရကံ ကျူးလွန်သူတစ်ဦးအတို့ ပြစ်ဒဏ်မစီရင်မီ ဝန်ချတောင်းပန်ခြင်းသည် လုံလောက်သည်မဟုတ်ပေ။ (မာဂျိဒီ)

**ဆက်စပ်မှု။**

အထက်တွင် ဝန်ချတောင်းပန်ခြင်း အကြောင်းပါရှိ၏။ ယခု လာလတ္တံ့သော အာယသ်တော်များတွင် အလ္လာဟ်အရှင်မြတ်သည် မည်သူမည်ဝါတို့၏ ဝန်ချတောင်းပန်မှုကို လက်ခံသဘောတူတော်မူ၍ မည်သူမည်ဝါတို့၏ ဝန်ချတောင်းပန်မှုကိုမူ သဘောမတူ လက်ခံတော်မမူသည့်အကြောင်း မိန့်ဆိုထားတော်မူသည်။ (ထာနဝီ)။

إِنَّمَا التَّوْبَةُ عَلَى اللَّهِ لِلَّذِينَ
يَعْمَلُونَ السُّوءَ بِجَهَالَةٍ
ثُمَّ يَتُوبُونَ مِن قَرِيبٍ
فَأُولَٰئِكَ يَتُوبُ اللَّهُ
عَلَيْهِمْ ۗ وَكَانَ اللَّهُ
عَلِيمًا حَكِيمًا ﴿١٧﴾

၁၇။ အလ္လာဟ် အရှင်မြတ်အပေါ်၌ အကြင်သူတို့၏ ဝန်ချတောင်းပန်ချက်ကိုသာလျှင် သဘောတူလက်ခံတော်မူရန် *တာဝန်ရှိပေသည်။* [၁] ထိုသူတို့သည် မသိမိုက်မဲမှုကြောင့် ဒုစရိုက်မှုကိုပြုမိကြ၏။ ထို့နောက် *မကြာမီအတွင်း* [၂] ထိုသူတို့သည် (သတိသံဝေဂ နောင်တရရှိကာ) ဝန်ချတောင်းပန်ကြ၏။ သို့ဖြစ်လျှင် အလ္လာဟ် အရှင်မြတ်သည် ထိုသူတို့ဘက်သို့ (ကရုဏာတော်နှင့်) ပြန်လှည့်တော်မူလေသည်။ စင်စစ် အလ္လာဟ် အရှင်မြတ်သည် အကြွင်းမဲ့ သိရှိတော်မူသော အရှင်၊ အကျိုးအကြောင်းဆင်ခြင် တုံတရားနှင့် ပြည့်စုံတော်မူသော အရှင်ဖြစ်တော်မူသည်။

وَلَيْسَتِ التَّوْبَةُ لِلَّذِينَ
يَعْمَلُونَ السَّيِّئَاتِ حَتَّىٰ
إِذَا حَضَرَ أَحَدَهُمُ الْمَوْتُ
قَالَ إِنِّي تُبْتُ الْآنَ وَلَا

၁၈။ သို့ရာတွင် အကြင် သူတို့အဘို့ ဝန်ချတောင်းပန်ချက်ကား မရှိပေ။ ထိုသူတို့သည် ဒုစရိုက်မှုများကို ပြုကျင့်လျက်ရှိကြ၏။ (ယင်းကဲ့သို့ ဒုစရိုက်မှုများတွင် နစ်မွန်းလျက် ရှိကြပေရာ နောက်ဆုံးတွင်) ထိုသူတို့အနက် တဦးတယောက် ထံသို့ သေခြင်းတရားသည် ရောက်ရှိလာလေတော့၏။

---

(၁) အလ္လာဟ်အရှင်မြတ်အပေါ်၌ တစ်စုံတစ်ခုကို ဆောင်ရွက်ရန် တာဝန်ဟူ၍ကားမရှိပေ။ ဤအာယသ်တော်တွင် 'အလ္လာဟ်အရှင်မြတ်အပေါ်၌ တာဝန်ရှိသည်' ဟု မိန့်ဆိုထားခြင်းမှာ ကတိတော်ကို လေးနက်စေခြင်းပင်ဖြစ်သည်။

(၂) 'ကရီဗ်' ၏ အဓိပ္ပါယ်မှာ မကြာမြင့်မီ၊ အနီးဟူ၍ ရသည်။ 'ကရီဗ်' ၏ အနက်ကို ပညာရှင်များသည် အောက်ပါအတိုင်း အမျိုးမျိုးဖွင့်ကြပေသည်။

(၁) ကရီဗ်ဟူသည် မိမိလက်ရှိအချိန်နှင့် မရဏသေမင်းကို တွေ့မြင်ရသည့်အချိန်၏ ကြားကာလကို ဆိုလိုသည်။ (သွဟ်ဟါတ်မှ တဆင့် အီဗ်နုဂျရီရ်)

(၂) မသေမီ အရာအားလုံးသည် နီးသည်သာဖြစ်သည်။ (သက်ရှိသက်မဲ့ဟူသမျှသည် သေဘို့အချိန်နှင့် နီးသည်။) (အီဗ်နုဂျရီရ်)

(၃) ထိုကရီဗ် ဟူသောစကား၏ အလိုသဘောကား (မိမိ၏) ဒုစရိုက်မှုသည် မိမိ၏ကောင်းမှုများကို လွှမ်းခြုံဖုံးအုပ်ပြီး အချည်းနှီးမဖြစ်စေမီ အလျင် (အချိန်)ပိုင်းကိုဆိုလိုသည်။ (မအာလင်မ်)

الَّذِينَ يَمُوتُونَ وَهُمْ كُفَّارٌ ۚ أُولَٰئِكَ أَعْتَدْنَا لَهُمْ عَذَابًا أَلِيمًا ﴿١٨﴾

ထိုအခါ ထိုသူက "ကျွန်တော်မျိုးသည် ယခု မုချ တောင်းပန်ပါပြီ" ဟု လျှောက်ထားလေသည်။ ၎င်းပြင် အကြင်သူများအဘို့လည်း ဝန်ချတောင်းပန်ခြင်းကား မရှိပေ။ ထိုသူများသည် ကာဖိရ်များအဖြစ်နှင့်ပင် သေဆုံးသွားကြ၏။

ဤသူများ (ကာဖိရ်များ)အဘို့ ငါအရှင်မြတ်သည် ပြင်းပြ နာကြင်ဘွယ်ဖြစ်သော အပြစ်ဒဏ်ကို အသင့် ပြုလုပ်ထားတော်မူသည်။ [၁]

يَا أَيُّهَا الَّذِينَ آمَنُوا لَا يَحِلُّ لَكُمْ أَنْ تَرِثُوا النِّسَاءَ كَرْهًا ۖ

**၁၉။** အို- သက်ဝင် ယုံကြည်သူ အပေါင်းတို့။ အသင်တို့အဘို့ မိန်းမတို့အား အဓမ္မနည်းဖြင့် အမွေ (ပစ္စည်း)အဖြစ် သိမ်းပိုက်ခြင်းသည် တရားသက်ဝင်သည်မဟုတ်ပေ၊ [၂]

---

(၁) ကုရ်အာန်ကျမ်းမြတ် (၄း၁၇-၁၈)တွင် သုံးဦးသောသူများ၏ ဝန်ချတောင်းပန်ခြင်းအကြောင်း မိန့်ဆိုထားတော်မူလေသည်။

(၁) မွတ်စ်လင်မ်တစ်ဦးသည် မသိမိုက်မဲသည့်အတွက် ပြစ်မှုတစ်ခုကို ကျူးလွန်မိ၏။ ထို့နောက် မကြာမီအတွင်းမှာပင် ဝန်ချတောင်းပန်၏။ ဤသို့သောသူ၏ ဝန်ချတောင်းပန်မှုကို အလ္လာဟ်အရှင်မြတ်သည် လက်ခံသဘောတူတော်မူရန် ကတိပြုထားတော်မူသည်။

(၂) မွတ်စ်လင်မ်တစ်ဦးသည် ပြစ်မှုများကိုကျူးလွန်လေ့ရှိ၏။ ဝန်ချတောင်းပန်ခြင်းကား မရှိချေ။ မရဏ သမင်းကို မြင်သောအခါမှပင် ဝန်ချတောင်းပန်၏။ ဤသို့သောသူ၏ ဝန်ချတောင်းပန်မှုကို လက်ခံသဘောတူတော်မူရန် အလ္လာဟ် အရှင်မြတ် ကတိတော်မရှိချေ။ သို့ရာတွင်မူ အလ္လာဟ်အရှင်မြတ်သည် မိမိကရုဏာတော်အဟုန်ဖြင့် ထိုသူအား ချမ်းသာခွင့် ပေးတော်မူလိုပါက ပေးတော်မူနိုင်ပေသည်။

(၃) ကာဖိရ်တစ်ဦးသည် မိမိတစ်သတ်တာလုံး ကာဖိရ်အဖြစ်နှင့်ပင် နေထိုင်၏။ နောက်ဆုံးတွင် ကာဖိရ်အဖြစ်နှင့်ပင် သေဆုံးသွားလေသည်။ ထိုသို့သော ကာဖိရ်၏ ဝန်ချတောင်းပန်ချက်ကိုမူ အလ္လာဟ်အရှင်မြတ်သည် လက်ခံသဘောတူတော်မူမည် မဟုတ်ပေ။

(၂) အစ္စလာမ်သာသနာ မထွန်းကာမီ အမိုက်ခေတ်တွင် သေဆုံးသူ၏ ပစ္စည်းများသည် အမွေဆိုင်တို့၏ လက်တွင်းသို့ ရောက်ရှိသွားသကဲ့သို့ သေဆုံးသူ၏ ဇနီး မိန်းမသည်လည်း အမွေဆိုင်တို့၏ လက်တွင်းသို့ ရောက်ရှိသွားလေသည်။ အမွေဆိုင် ယောကျ်ားသည် မိမိ၏ လက်တွင်းသို့ အမွေပစ္စည်းအဖြစ် ရောက်ရှိလာသော မုဆိုးမကို သဘောကျလျှင် မိမိကိုယ်တိုင် အဓမ္မနည်းဖြင့် ထိမ်းမြား ယူလေသည်။ သို့မဟုတ် အခြားယောကျ်ား တဦးတယောက်နှင့် ထိမ်းမြားပေးလေသည်။



وَلَا تَعْضُلُوهُنَّ لِتَذْهَبُوا بِبَعْضِ مَآ اٰتَيْتُمُوهُنَّ اِلَّآ اَنْ يَّاْتِيْنَ بِفَاحِشَةٍ مُّبَيِّنَةٍ ۚ وَعَاشِرُوهُنَّ بِالْمَعْرُوفِ ۚ فَاِنْ كَرِهْتُمُوهُنَّ فَعَسٰٓى اَنْ تَكْرَهُوا

၎င်းပြင် အသင်တို့သည် ထိုသူတို့အား ပေးခဲ့ဘူးသော ပစ္စည်း အချို့အဝက်ကို ပြန်လည်၍ ယူရန်အလို့ငှာ *ထိုမိန်းမတို့အား (ထိမ်းမြားခြင်းမှ) ပိတ်ပင် တားဆီးခြင်းကိုလည်း မပြုကြလေနှင့်၊* ၁ သို့ရာတွင် ထို မိန်းမများသည် ထင်ရှားသော စက်ဆုပ် ရွံ့ရှာဘွယ် အမှုကိစ္စကို ပြုကျင့်သည်ရှိသော် (အသင်တို့သည် ထိုမိန်းမတို့အား ထိမ်းမြားခြင်းမှ ပိတ်ပင် တားဆီးနိုင်ကြပေသည်။ ထိုမိန်းမတို့၏ *ဥစ္စာပစ္စည်းကို ယူပိုင်ကြပေသည်)။*

---

➤➤ အမိုက်ခေတ်တွင် အမျိုးသမီးများနှင့် ၎င်းတို့၏ ဥစ္စာပစ္စည်းများကို မတရားသဖြင့် သိမ်းပိုက်ပုံမှာ သုံးမျိုးသုံးစားရှိသည်။

(၁) မုဆိုးမရသင့်ရထိုက်သော အမွေပစ္စည်းများကို ထိုမုဆိုးမအား ခွဲဝေမပေးဘဲ အမွေဆိုင်တို့က သိမ်းပိုက်ထားခြင်း။

(၂) မုဆိုးမထံမှ ဥစ္စာပစ္စည်းများကို အလိုရှိသည့်အတွက် မုဆိုးမအား သူတပါးနှင့် ထိမ်းမြားခွင့်မပြုဘဲ ထားခြင်း၊ အကယ်၍ ထိုအတောအတွင်း မုဆိုးမ သေဆုံးသွားလျှင် ထိုမုဆိုးမ၏ပစ္စည်းများကို သိမ်းပိုက်ယူကြလေသည်။ သို့မဟုတ် ထိုမုဆိုးမသည် မိမိ၏ ပစ္စည်းအချို့ကို ပေး၍ ကိုယ်လွတ်ရုန်းသွားရလေသည်။

(၃) လင်ယောကျ်ားသည် မိမိ၏ဇနီးထံမှ ဥစ္စာပစ္စည်း အချို့အဝက်ကို လိုချင်သည့် အတွက် ဇနီးမိန်းမအား အကြောင်းမဲ့ ညှဉ်းပန်းခြင်း။ ရှု - (ထာနဝီ)။

① အစ္စလာမ်သာသနာ မထွန်းကားမီ အမိုက်ခေတ်တွင် ထုံးတမ်းစဉ်လာ တစ်ခုရှိသည်မှာ ဥစ္စာပစ္စည်းပေါများသော မုဆိုးမ၏ ပစ္စည်းများကို အလိုရှိသော အမွေဆိုင်တို့သည် ထိုမုဆိုးမအား အခြားသူတစ်ဦးတစ်ယောက်နှင့် ထိမ်းမြားခွင့်မပြုဘဲ အိမ်ထဲတွင် ပိတ်လှောင်ထားလေ့ရှိကြသည်။ တစ်ခါတစ်ရံ မုဆိုးမသည် အိမ်တွင်းမှာပင် ပိတ်လှောင်လျက် သေဆုံးသွားရလေသည်။ တစ်ခါတရံ
မုဆိုးမသည် မိမိပိုင် ဥစ္စာပစ္စည်းများကို အမွေဆိုင်တို့အား ပေးပြီး မိမိကိုယ်ကို အလွတ်ရုန်းထွက်ရလေသည်။

အမိုက်ခေတ်တွင် အမျိုးသမီးများအား မတရားဖိနှိပ်ချုပ်ချယ်ပုံမှာ သုံးမျိုးသုံးစားရှိသည်။

(၁) သေသူ၏ အမွေဆိုင်တို့သည် သေသူ၏ ဇနီးထံမှ ဥစ္စာပစ္စည်းအချို့အဝက်ကို မရရှိသည်နှင့်အမျှ ထိုမိန်းမအား သူတပါးနှင့် ထိမ်းမြားခွင့်မပြုခြင်း။

(၂) လင်ယောကျ်ားသည် မိမိ၏ ဇနီးထံမှ ဥစ္စာပစ္စည်း အချို့အဝက်ကို ယူလိုသည့်အတွက် ဇနီးမိန်းမအား မကွာရှင်းဘဲ အကြပ်ကိုင်ခြင်း။

(၃) လင်ယောကျ်ားသည် မိမိ၏ဇနီးမိန်းမအား ကွာရှင်းပြီးသည့် နောက်သော် မှပင် ထိုဇနီးမိန်းမထံမှ အချို့အဝက် ဥစ္စာပစ္စည်း မရရှိသည်နှင့်အမျှ သူတပါးနှင့် ထိမ်းမြားခွင့်မပြုခြင်း။ ကြည့် - (ထာနဝီ)။ ➤➤

شَيْئًا وَّيَجْعَلَ اللّٰهُ فِيْهِ خَيْرًا كَثِيْرًا ⑲

ငှင်းပြင် အသင်တို့သည် ယင်းမိန်းမတို့နှင့် *ကောင်းမွန်စွာ ဆက်ဆံကြလေကုန်၊* [၁] တဖန် အကယ်၍ အသင်တို့သည် ထိုမိန်းမတို့ကို မနှစ်ခြိုက်ကြပါမူ (ခန္တီတရား ထားရှိကြကာ သည်းခံကြလေကုန်)။ အကြောင်းသော်ကား အသင်တို့သည် တစုံတရာကို မနှစ်ခြိုက်ကြငြားလည်း အလ္လာဟ် အရှင်မြတ်သည် ယင်းအရာများ၌ များစွာသောကောင်းမြတ်ခြင်းကို ပြုလုပ်တော်မူတန်ရာ၏။ [၂]

➤➤ ဤသည်ကား အစ္စလာမ်သာသနာမထွန်းကားမီ အမိုက်ခေတ်တွင် အမျိုးသမီးများအား အမျိုးမျိုးချုပ်ချယ်ခြင်းတည်း။ အစ္စလာမ်သာသနာသည် ထိုထိုသောချုပ်ချယ်မှုများမှ အမျိုးသမီးများအားကယ်တင်ခဲ့လေသည်။

(၂) 'ထင်ရှားသော စက်ဆုပ်ရွံ့ရှာဘွယ်အမှု' ဟူသည် ကာမေသုမိစ္ဆာစာရကံ ကျူးလွန်မှုကို ဆိုလိုသည်မှာ အထင်အရှားပင် ဖြစ်သည်။ အချို့ပညာရှင်များကမူ အထက်ပါ "ထင်ရှားသော စက်ဆုပ်ရွံ့ရှာဘွယ်အမှု" ဟူသောစကားတွင် ကာမေသုမိစ္ဆာစာရကံ ကျူးလွန်မှု အကျုံးဝင်သကဲ့သို့ လင်ခင်ပွန်း၏ အမိန့်ကို သွေဖည်ငြင်းပယ်မှုလည်း အကျုံးဝင်လျက်ရှိပေသည်ဟု ဆိုကြလေသည်။ ရှု - (အီဗ်နုကဿီရ်)

အမျိုးသမီးများအား အမိုက်ခေတ်ကဲ့သို့ အကြောင်းမဲ့ ပိတ်လှောင်ချုပ်ချယ်ခြင်း မပြုရမည့်အကြောင်း၊ ယင်းသူတို့ထံမှ ဥစ္စာပစ္စည်းများကို အဓမ္မနည်းဖြင့် ယူငင်ခြင်းမပြုရမည့်အကြောင်း၊ အထက်တွင် ပါရှိခဲ့လေပြီ။ သို့ရာတွင် အကယ်၍ မိန်းမတစ်ယောက်သည် ထင်ရှားစက်ဆုပ်ရွံ့ရှာဘွယ်အမှုကို ကျူးလွန်သည်ရှိသော် ယောကျ်ားသည် မိန်းမအား အိမ်တွင်ပိတ်လှောင်ချုပ်ချယ်ခြင်းကိုငှင်း၊ ထိုမိန်းမထံမှ အချို့အဝက်ပစ္စည်းယူခြင်းကိုငှင်း၊ ပြုလုပ်နိုင်ပေသည်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ အသေးစိတ်ဓမ္မသတ်များကို ထာနဝီသခင်ရေး ဗယာနုလ် ကုရ်အာန်ကျမ်းတွင် ရှုပါ။

(၁) အမျိုးသမီးများနှင့် ကောင်းမွန်သင့်မြတ်စွာ ပေါင်းသင်းဆက်ဆံခြင်းသည် အိမ်ထောင်စုတစ်ခုလုံး သာယာမှု၏ အဓိကအချက်ပင် ဖြစ်ပေသည်။ ဤအမိန့်တော်တွင် ဇနီးမိန်းမများ၊ ကွာရှင်းပြတ်စဲထားသော အမျိုးသမီးများ အားလုံးအကျုံးဝင်လေသည်။ (မာဂျိဒီ)

(၂) တစ်ခါတရံ ယောကျ်ားများသည် ဇနီးမိန်းမများအားအပြစ်ဆိုရန် တစုံတရာမရှိပါဘဲလျက် စိတ်တွင်းမ အလိုအလျောက် မနှစ်ခြိုက်ရွံ့ရှာတတ်ကြပေသည်။ ယင်းကဲ့သို့ အကြောင်းမဲ့ မနှစ်သက်မှုဖြစ်ပေါ်လာလျှင် ယောကျ်ားများသည် သည်းခံတရားထားကာ ဆက်လက်၍ပင် ပေါင်းသင်းဆက်ဆံပြီး နေထိုင်ကြရပေမည်။ အဘယ်ကြောင့်ဟူမူ အလ္လာဟ်အရှင်မြတ်သည် ထိုကဲ့သို့ လူသားတို့ မနှစ်ခြိုက်သောအရာ၌ပင် လောကီလောကုတ္တရာ နှစ်ဖြာသောအကျိုးများကို စီရင်ပြုလုပ် ဖန်တီးထားတော်မူနိုင်ခြင်းကြောင့်တည်း။ ယောကျ်ားများ အကြောင်းမဲ့ မနှစ်ခြိုက်သောအမျိုးသမီးများပင်လျှင် လင့်ဝတ္တရားကျေပွန်သူများ၊ လင်ယောကျ်ားအတို့ ကိုယ်စိတ်နှစ်ဖြာချမ်းသာမှုများကို ဆောင်ကြဉ်းသူများ၊ လင်ယောကျ်ားတို့အား ချစ်ခင်ကြင်နာ လေးစားသူများ ဖြစ်နိုင်ကြပေသည်။ နှစ်ဘဝ၏အကျိုးဆောင်မည့် သားကောင်းရတနာများကို ဘွားမြင်နိုင်ကြပေသည်။ ယုတ်စွအဆုံး လင်ယောကျ်ားများသည် မိမိတို့၏သည်းခံပေါင်းသင်းခြင်း၏ အကျိုးကို မုချရရှိကြပေမည်။ (ထာနဝီ)

وَاِنْ اَرَدْتُّمُ اسْتِبْدَالَ زَوْجٍ مَّكَانَ زَوْجٍ ۙ وَّاٰتَيْتُمْ اِحْدٰىهُنَّ قِنْطَارًا فَلَا تَاْخُذُوْا مِنْهُ شَيْـًٔا ؕ اَتَاْخُذُوْنَهٗ بُهْتَانًا وَّاِثْمًا مُّبِيْنًا ﴿۲۰﴾

၂၀။ ထို့ပြင်တဝ အကယ်၍ အသင် တို့သည် (ပေါင်းသင်းဆက်ဆံခြင်းငှာ မဖြစ်နိုင်၍) ဇနီးမိန်းမ တဦး(ကို ကွာရှင်းကာ ၎င်း)၏ နေရာ၌ အခြားမိန်းမ တဦးကို ပြောင်းလဲ(ထိမ်းမြား)ရန် ကြံရွယ်ရည်စူး ကြပါမူ၊ အသင်တို့သည် ထို (ပဌမ)ဇနီးသည်ကို ပစ္စည်း အမြောက်အမြား ပေးထားခဲ့ကြလင့် ကစား ထိုပစ္စည်းများအနက်မှ *တစ်စုံတစ်ရာကိုမျှ ပြန်၍ မယူကြကုန်လင့်။* ①

အသင်တို့သည် (မိမိတို့ ပေးခဲ့ပြီးဖြစ်သော) ပစ္စည်းများကို မဟုတ်မမှန် ပြောဆို စွပ်စွဲ၍ ထင်ရှားသော မှုပြစ်ကို (ကျူးလွန်ကာ) ပြန်၍ ယူလိုကြပါသလော။

وَكَيْفَ تَاْخُذُوْنَهٗ وَقَدْ اَفْضٰى بَعْضُكُمْ اِلٰى بَعْضٍ وَّاَخَذْنَ مِنْكُمْ مِّيْثَاقًا غَلِيْظًا ﴿۲۱﴾

၂၁။ တဖန် အသင်တို့သည် ဥစ္စာပစ္စည်းများ ကို အဘယ်ကဲ့သို့ ပြန်၍ ယူကြမည်နည်း။ ဧကန် စင်စစ် အသင်တို့သည် တဦးနှင့် တဦး (အကြင် ဇနီး မောင်နှံအဖြစ် ပေါင်းသင်းဆက်ဆံ) ရောနှော စပ်ယှက်ပြီး ဖြစ်ကြသည့်ပြင်၊ ယင်းဇနီးမိန်းမ တို့သည် (မိမိတို့၏ အခွင့်အရေးများနှင့်စပ်လျဉ်း၍) အသင်တို့ ထံမှ ခိုင်မာသော ကတိသစ္စာ ပဋိညာဉ် ဝန်ခံချက်ကို ယူထားပြီးလည်း ဖြစ်ကြလေသတည်း။

---

① အထက်ပါ အာယသ်တော်များ၌ အကယ်၍ ဇနီးမိန်းမများသည် စက်ဆုပ်ရွံ့ရှာဘွယ် အမှုကို ကျူးလွန် ခဲ့ကြသည် ရှိသော် ထိုသို့သော ဇနီးမိန်းမများထံမှ ဥစ္စာပစ္စည်း အချို့အဝက်ကို ယူပိုင်ခွင့်ရှိကြောင်း ပါရှိလေသည်။ အခြားအကြောင်းများနှင့် ပတ်သက်၍ကား ဇနီးမိန်းမများထံမှ ဥစ္စာပစ္စည်းများကို အလျင်း ယူပိုင်ခွင့်မရှိချေ။ ယူပိုင်ခွင့်မရှိသော အကြောင်းများတွင် အောက်ပါအကြောင်းသည်လည်း အပါအဝင်ဖြစ်သည်။

ဥပမာ – ယောကျ်ားတစ်ယောက်သည် ပဌမမိန်းမကို မိမိအလိုအလျောက် စိတ်ကုန်ခန်းပြီး ဒုတိယ မိန်းမတစ်ယောက်နှင့် ထိမ်းမြားလိုသောအခါ ထိုဒုတိယမိန်းမအား 'မဟ်ရ်' ပေးရန်အတွက် ပဌမမိန်းမအား မဟုတ်မမှန် လုပ်ကြံစွပ်စွဲပြီး 'မဟ်ရ်' ကို ပြန်ယူရန် ကြိုးပမ်း၏။ အကယ်၍ ပဌမမိန်းမအား 'မဟ်ရ်' လက်ရောက် မပေးရသေးသည်ရှိသော် ထို 'မဟ်ရ်' ကို စွန့်လွှတ်ကြရန် အကြပ်ကိုင်၏။ ➢➢

وَلَا تَنْكِحُوا مَا نَكَحَ اٰبَآؤُكُمْ مِّنَ النِّسَآءِ اِلَّا مَا قَدْ سَلَفَ ۗ اِنَّهٗ كَانَ فَاحِشَةً وَّمَقْتًا ۗ وَسَآءَ سَبِيْلًا ﴿٢٢﴾

၂၂။ ၄င်းပြင် အသင်တို့သည် မိမိတို့၏ ဘခင်များ ထိမ်းမြား ခဲ့ကြကုန်သော မိန်းမတို့နှင့် ထိမ်းမြားခြင်းကို မပြုကြကုန်လင့်။ ၁ သို့ရာတွင် (ဤအမိန့်တော်မကျရောက်မီ) လွန်ခဲ့သော အမှုများကား (လွန်ခဲ့လေပြီ။)

အကြောင်းသော်ကား ယင်းအမှုကိစ္စသည် ဧကန်စင်စစ် ယုတ်မာမှုတရပ်ဖြစ်သည့်ပြင် စက်ဆုပ်ရွံရှာဘွယ်လည်းဖြစ်၏။ ဤမျှမက ယင်းကိစ္စသည် အလွန် ဆိုးရွားလှသော နည်းလမ်း တခုလည်း ဖြစ်ပေသေး၏။

---

➤➤ ဤသို့အားဖြင့် ထိုယောကျ်ားသည် ဒုတိယမိန်းမယူရာတွင် 'မဟ်ရ်' ကို မိမိထံမှ အကုန်အကျမခံလိုဘဲ ပဌမဇနီးမိန်းမထံမှ မတရားသဖြင့် တောင်းယူ၏။

ဤသို့ကား အလျင်းမပြုအပ်ချေ။ အဘယ်ကြောင့်ဆိုသော် လင်ယောကျ်ားသည် ထိုမိန်းမအား နှစ်ဦးသဘောတူ လူကြီးစုံရာရှေ့တွင် ကောင်းမွန်စွာ ထိမ်းမြားယူထား၏။ 'မဟ်ရ်' အမြောက်အမြားကို ပေးပြီးဖြစ်၏။ သို့တည်းမဟုတ် ပေးရန် ကတိပြုထား၏။ ဇနီးမောင်နှံ ၂-ဦးအဖြစ် ပေါင်းသင်းဆက်ဆံနေထိုင်ပြီးလည်းဖြစ်၏။ သို့ဖြစ်ပေရာ ထိုကဲ့သို့ အပြစ်မရှိသော ဇနီးမိန်းမတစ်ဦးအား မဟုတ်မမှန် လုပ်ကြံစွပ်စွဲပြောဆိုပြီး ထိုဇနီးမိန်းမ၏ ပိုင်ဆိုင်သော ဥစ္စာပစ္စည်းကို ယူခြင်းမှာ အသို့လျှင် တရားသည်ဟု ဆိုနိုင်အံ့နည်း။ ဤသည့်အကြောင်းကိုပင် ဤအာယသ်တော်၌ မိန့်ဆိုထားတော်မူသည်။ (ထာနဝီ)။

(၁) အစ္စလာမ်သာသနာ မထွန်းကားမီ အမိုက်ခေတ်တွင် အလွန်ဆိုးရွားလှသော ထုံးတမ်းစဉ်လာများရှိခဲ့၏။ ထိုထုံးတမ်းစဉ်လာများတွင် မိမိတို့၏ မိထွေးများနှင့် ထိမ်းမြားခြင်းလည်း အပါအဝင်ဖြစ်၏။

ဤထုံးတမ်းစဉ်လာ အပြုအမူသည် အရှက်အကြောက် ကင်းမဲ့သော အပြုအမူလည်းဖြစ်၏။ စက်ဆုတ်ရွံရှာဘွယ် ကောင်းလှသော အမှုလည်းဖြစ်၏။ အလွန်မကောင်းသော နည်းလမ်းလည်းဖြစ်၏။ အမိုက်ခေတ်မှာပင် အချို့ ယဉ်ကျေးသိမ်မွေ့သောသူများသည် မိထွေးနှင့် ထိမ်းမြားခြင်းကို စက်ဆုပ်ရွံရှာခဲ့ကြ၏။ အမိုက်ခေတ်မှာပင် မိထွေးနှင့် ထိမ်းမြားခြင်းကို 'နိကာဟုလ်မါက်တိ' စက်ဆုပ်ရွံရှာဘွယ်ဖြစ်သော ထိမ်းမြားခြင်းဟု ခေါ်ဆိုခဲ့ကြ၏။ မိထွေးနှင့် ထိမ်းမြားရရှိသော သားသမီးများကို 'မါက်တီ' စက်ဆုပ်ရွံရှာဘွယ် ဖြစ်သော သားသမီးဟု ခေါ်ဆိုခဲ့ကြ၏။ သို့အတွက်ကြောင့်ပင်လျှင် ကုရ်အာန်ကျမ်းမြတ်၌ မိထွေးနှင့် ထိမ်းမြားခြင်း မပြုရမည့်အကြောင်း မြစ်တားတော်မူခြင်းဖြစ်သည်။

ဘခင်တို့ထိမ်းမြားခဲ့သော ဇနီးများဟုဆိုရာ၌ အဘိုး၊ အဘေး၊ အဘွေး - စသည်တို့၏ ဇနီးများလည်း အကျုံးဝင်ပေသည်။ (ထာနဝီ)။

حُرِّمَتْ عَلَيْكُمْ أُمَّهَٰتُكُمْ
وَبَنَٰتُكُمْ وَأَخَوَٰتُكُمْ وَعَمَّٰتُكُمْ
وَخَٰلَٰتُكُمْ وَبَنَاتُ ٱلْأَخِ وَبَنَاتُ
ٱلْأُخْتِ وَأُمَّهَٰتُكُمُ ٱلَّٰتِىٓ
أَرْضَعْنَكُمْ وَأَخَوَٰتُكُم مِّنَ
ٱلرَّضَٰعَةِ وَأُمَّهَٰتُ
نِسَآئِكُمْ وَرَبَٰٓئِبُكُمُ ٱلَّٰتِى
فِى حُجُورِكُم مِّن نِّسَآئِكُمُ
ٱلَّٰتِى دَخَلْتُم بِهِنَّ
فَإِن لَّمْ تَكُونُوا۟ دَخَلْتُم
بِهِنَّ فَلَا جُنَاحَ عَلَيْكُمْ
وَحَلَٰٓئِلُ أَبْنَآئِكُمُ ٱلَّذِينَ
مِنْ أَصْلَٰبِكُمْ وَأَن
تَجْمَعُوا۟ بَيْنَ ٱلْأُخْتَيْنِ
إِلَّا مَا قَدْ سَلَفَ

၂၃။ (အို- "မုအ်မင်န်" သက်ဝင်ယုံကြည်သူ အပေါင်းတို့) အသင်တို့အတို့ ("နိကာဟ်" ထိမ်းမြား လက်ထပ်ခြင်းမပြုကြရန်) "ဟရာမ်" ဟူ၍ မြစ်တားထားပြီးဖြစ်သော မိန်းမများကား၊ အသင်တို့၏ မိခင်များသည်လည်းကောင်း၊ အသင်တို့၏ သမီးများသည်လည်းကောင်း၊ အသင်တို့၏အစ်မ များ၊ နှမများသည်လည်းကောင်း၊ အသင်တို့၏ အရီးကြီး၊ အရီးကလေးသည်လည်းကောင်း၊ အသင် တို့၏ အမိကြီး၊ အမိထွေးတို့သည်လည်းကောင်း၊ ညီ (သို့မဟုတ်) အစ်ကို၏ သမီးများသည်လည်း ကောင်း၊ အသင်တို့အား နို့ရည်တိုက်ကျွေးခဲ့ ဘူးသော နို့ထိန်းသည် မိခင်တို့သည်လည်းကောင်း၊ အစ်မ၊ နှမ၏ သမီးများသည် လည်းကောင်း၊ နို့စို့ဘက် အစ်မ၊ နှမများသည် လည်းကောင်း၊ အသင်တို့၏ဇနီးမိန်းမတို့၏ မိခင်များသည်၎င်း၊ အသင်တို့ ပေါင်းသင်း စပ်ယှက်ခဲ့ဘူးကြသော ဇနီးမိန်းမတို့မှ ပေါက်ဖွား ကြကုန်သော အသင်တို့၏ ရင်ခွင်၌ ကြီးပြင်းကြသော မိမိတို့မယားပါ သမီးများသည် လည်းကောင်း၊ ဖြစ်ကြကုန်သတည်း။

သို့ရာတွင် အကယ်၍ အသင်တို့သည် ယင်းဇနီးမိန်းမတို့နှင့် ပေါင်းသင်း စပ်ယှက်ခြင်း မပြုခဲ့ကြပါမူ (ထိုမယားပါ သမီးများနှင့် ထိမ်းမြားခြင်းအားဖြင့်) အသင်တို့၌ အပြစ်တစုံတရာမျှ မရှိပေ။ ၎င်းပြင် အသင်တို့၏သားရင်းတို့၏ ဇနီးမိန်းမတို့(နှင့် ထိမ်းမြားခြင်း)သည် လည်းကောင်း၊ ညီအစ်မနှစ်ယောက်တို့ကို (တချိန်တည်းထိမ်းမြား) ပေါင်းသင်းခြင်းသည် လည်းကောင်း၊ (မြစ်တားပြီး ဖြစ်ပေသည်)။

إِنَّ اللّٰهَ كَانَ غَفُوْرًا رَّحِيْمًا ﴿٢٣﴾

သို့ရာတွင် (ဤအမိန့်တော် မကျရောက် မီက) ပြုခဲ့သည်တို့သည် (ခွင့်လွှတ်ပြီး ဖြစ်ချေ သည်) အကြောင်းတမူကား အလ္လာဟ်အရှင်မြတ် သည် (ပြစ်မှုဒုစရိုက်တို့မှ) အကြိမ်ကြိမ် လွတ်ငြိမ်း ချမ်းသာခွင့်ပေးသနားတော်မူသောအရှင်၊ အလွန် တရာ သနားကြင်နာ ညှာတာတော်မူသော မဟာ ကရုဏာ တော်ရှင် ဖြစ်တော်မူပေသတည်း။ [၁]

---

(၁) <u>ထိမ်းမြားခြင်းမပြုရန် မြစ်တားထားသော အမျိုးသမီးများ</u>

| | | |
|---|---|---|
| ၁။ | *မိခင်များ* | မိခင်များဆိုရာ၌ မိခင်များနှင့်တကွ မိခင်ဘက်မှရင်း၊ အဘဘက်မှရင်း အထက်အဆက်များ ဖြစ်သော အဘွား၊ အဘေးမ၊ အဘွေးမ၊ အဘဲမ၊ အဘီမ၊ အဘော်မ အာလုံး အကျုံးဝင်ပေသည်။ |
| ၂။ | *သမီးများ* | သမီးများဟု ဆိုရာ၌ သားဘက်မှရင်း၊ သမီးဘက်မှရင်း၊ အောက်ဆက်များဖြစ်သော မြေး၊ မြစ်၊ တီ၊ တွေ၊ ကျွတ်၊ကျွတ် ဆတ်၊ အာလုံး အကျုံးဝင်ပေသည်။ |
| ၃။ | *အစ်မ၊ နှစ်မများ* | အစ်မ၊ နှစ်မများဟု ဆိုရာ၌ မိတူဘတူ အစ်မနှစ်မများနှင့် တကွ မိတူဘကွဲ၊ ဘတူမိကွဲ အစ်မနှစ်မများအားလုံး အကျုံးဝင်ပေသည်။ |
| ၄။ | *အရီးများ* | အရီးများဟုဆိုရာ၌ ဘခင်နှင့် ဘခင်၏အထက် အားလုံးတို့၏ မိတူဘတူ၊ မိတူဘကွဲ၊ ဘတူမိကွဲ အစ်မနှစ်မ အားလုံး အကျုံးဝင်ပေသည်။ |
| ၅။ | *အဒေါ်များ* | အဒေါ်များဟု ဆိုရာ၌ မိခင်နှင့်တကွ မိခင်၏ အထက်ဆက် အားလုံးတို့၏ မိတူဘတူ၊ မိတူဘကွဲ။ ဘတူမိကွဲ အစ်မညီမများ အားလုံးအကျုံးဝင်ပေသည်။ |
| ၆။ | *ညီ-အစ်ကို၏သမီးများ* | ညီ-အစ်ကို၏သမီးများဟု ဆိုရာ၌ မိတူဘတူ၊ မိတူဘကွဲ၊ ဘတူမိကွဲ ညီ-အစ်ကို အာလုံးတို့၏ သမီးများ အကျုံးဝင်ပေသည်။ |
| ၇။ | *အစ်မ-နမ၏သမီးများ* | အစ်-နမ၏သမီးများဟု ဆိုရာ၌ မိတူဘတူ မိတူဘကွဲ၊ ဘတူမိကွဲ အစ်မ-နမများ အားလုံးတို့၏ သမီးများ အကျုံးဝင်ပေသည်။ |
| ၈။ | *နို့တိုက်ကျွေးဘူးသော နို့ထိန်းသည်မိခင်များ* | နို့တိုက်ကျွေးဘူးသော နို့ထိန်းသည်များကို အစ္စလာမ်သာသနာက အမိ ဟူ၍ပင် ခေါ်ဆိုထားသည်။ သို့ဖြစ်ပေရာ နို့ထိန်းသည်သည် မိခင်အရင်း၏ စည်းကမ်းချက်အတိုင်းပင် ဖြစ်ပေသည်။ ➤➤ |

| | | |
|---|---|---|
| ၉။ | *နို့စို့ဘက်အစ်မနှမများ* | အကြင်ယောကျ်ားကလေး တယောက်သည် အကြင် မိန်းကလေး တယောက်၏ မိခင်နို့ကိုငှင်း၊ ထိုမိန်းကလေး၏ နို့ထိန်းသည်၏ နို့ကိုငှင်း၊ ထို့အတူ အကြင်မိန်းကလေး တယောက်သည် အကြင် ယောကျ်ားကလေး၏ မိခင်နို့ကိုငှင်း၊ ထိုယောကျ်ားကလေး၏ နို့ထိန်းသည်၏နို့ကိုငှင်း တချိန်တည်းဖြစ်စေ၊ တခြားစီဖြစ်စေ စို့ခဲ့ဘူးသော်၊ ထိုယောကျ်ားကလေးနှင့် ထိုမိန်းကလေးများသည် အချင်းချင်း နို့စို့ဘက် မောင်နှမများ ဖြစ်သွားကြလေသည်။ |
| ၁၀။ | *ဇနီးမိန်းမများ၏မိခင်များ* | ဇနီးမိန်းမများ၏ မိခင်များဟု ဆိုရာ၌ ဇနီးမိခင်နှင့်တကွ ထိုဇနီး၏ အထက်အဆက် အားလုံး အကျုံးဝင်ပေသည်။ |

<u>**မှတ်ချက်။**</u>

မိန်းမတဦးတယောက်နှင့် ထိမ်းမြားရုံမျှဖြင့် (သံဝါသ စပ်ယှက်မှု မပြုရသော်လည်း) ထိုမိန်းမ၏ အထက်ဆက် အားလုံးတို့နှင့် ထိမ်းမြားခြင်း မပြုပိုင်ချေ။ (ရှု-ကရှ်ရှာဖ်)

| | | |
|---|---|---|
| ၁၁။ | *မယားပါသမီးများ* | မယားပါသမီးများဟု ဆိုရာ၌ မယားပါသမီးများနှင့်တကွ ယင်းတို့၏ အောက်ဆက်များ အားလုံး အကျုံးဝင်ပေသည်။ |

<u>**မှတ်ချက်။**</u>

အကယ်၍ အကြင်မိန်းမတဦးနှင့် ထိမ်းမြားပြီး သံဝါသမပြုသေးလျှင် ထိုမိန်းမအား ကွာရှင်းပြီး၍သော်၎င်း၊ ထိုမိန်းမ သေဆုံးသည်ရှိသော်၎င်း၊ ထိုမိန်းမ၏သမီးနှင့် ထိမ်းမြားပိုင်ခွင့်ရှိသည်။

မိမိတို့၏ရင်ခွင်၌ ကြီးပြင်းသော မယားပါသမီးများ ဟူ၍ မိန့်ဆိုထားတော်မူခြင်းမှာ ဖြစ်လေ့ဖြစ်ထ ရှိသည်ကို ရည်ညွှန်းခြင်းမျှသာ ဖြစ်သည်။ သီးခြားစည်းကမ်းချက် မဟုတ်ပေ။ ရင်ခွင်၌ ကြီးပြင်းခြင်းသည် အဓိက အချက်မဟုတ်ပေ။

| | | |
|---|---|---|
| ၁၂။ | *သားရင်းများ၏ဇနီးများ* | သားရင်းများ၏ဇနီးမိန်းမများဟုဆိုရာ၌ သားရင်းများနှင့်တကွ ယင်းတို့၏အောက်ဆက်များ အားလုံးအကျုံးဝင်ပေသည်။ သားရင်းဟု မိန့်ဆိုထားတော်မူခြင်းမှာ သားရင်းမဟုတ်သော မွေးစားသားများ၏ ဇနီးမိန်းများနှင့်ကား ထိမ်းမြားပိုင်ခွင့် ရှိခြင်းကြောင့်တည်း။ ဤအကြောင်း ကုရ်အာန်ကျမ်းမြတ် (၃၃း ၃၇)တွင် တွေ့ရှိရပေသည်။ |
| ၁၃။ | *ညီအစ်မနှစ်ယောက်ကို တပြိုင်တည်း ထိမ်းမြားပိုင်ခွင့်မရှိ* | ညီအစ်မနှစ်ဦးဟု ဆိုရာ၌ မိတူဘတူ၊ မိတူဘကွဲ၊ ဘတူမိကွဲ၊ ညီအစ်များ၊ နို့စို့ဘက် ညီအစ်မများ အားလုံး အကျုံးဝင်ပေသည်။ |
| ၁၄။ | *လင်ရှိမိန်းမများ* | လင်ရှိမိန်းမများနှင့် ထိမ်းမြားခြင်းမပြုအပ်သည့်အကြောင်း ကုရ်အာန်ကျမ်းတော်မြတ် ပဌမအစောင်၏ အစ၌ပင် တွေ့ရှိရအံ့။ |

وَّالْمُحْصَنٰتُ مِنَ النِّسَآءِ اِلَّا مَا مَلَكَتْ اَيْمَانُكُمْۚ كِتٰبَ اللّٰهِ عَلَيْكُمْۚ وَاُحِلَّ لَكُمْ مَّا وَرَآءَ ذٰلِكُمْ اَنْ تَبْتَغُوْا بِاَمْوَالِكُمْ مُّحْصِنِيْنَ غَيْرَ مُسٰفِحِيْنَؕ فَمَا اسْتَمْتَعْتُمْ بِهٖ مِنْهُنَّ فَاٰتُوْهُنَّ اُجُوْرَهُنَّ فَرِيْضَةًؕ وَلَا جُنَاحَ عَلَيْكُمْ فِيْمَا تَرٰضَيْتُمْ بِهٖ مِنْۢ بَعْدِ

၂၄။ ၎င်းအပြင် အမျိုးသမီးများအနက် ထိန်းသိမ်းစောင့်ရှောက်ပြီးဖြစ်သော (ဝါ) လင်ရှိ မိန်းမများသည်လည်း (ထိမ်းမြားရန်မြစ်တားပြီး ဖြစ်ချေ သည်)၊ သို့ရာတွင် အကြင် မိန်းမများသည် အသင်တို့ လက်တွင်းသို့ သုံ့ပန်းအဖြစ်နှင့် ရောက်ရှိ လာကြသော် *(ထိုသို့ လင်ရှိ သုံ့ပန်းမိန်းမများကိုပင် ထိမ်းမြားပိုင်ခွင့်ရှိပေသည်)။* [၁] (ဤသည်) အသင်တို့အပေါ်၌ အလ္လာဟ်အရှင်မြတ်၏ (အထံတော်မှ) သတ်မှတ်ပြဋ္ဌာန်းပြီးဖြစ်သော အမိန့်တော်ဖြစ်သည်။ ၎င်းအပြင် ထို (ဖော်ပြပါ) မိန်းမတို့မှတပါး *အခြားသော မိန်းမများကို အသင်တို့အဘို့ “ဟလာလ်” ပြုလုပ်ထားတော်မူသည်။* [၂] ဆိုလိုသည်ကား အသင်တို့သည် (ထိုမိန်းမများကို) မိမိတို့၏ ဥစ္စာပစ္စည်းများဖြင့် ကာမဂုဏ် လိုက်စားသူများအဖြစ်နှင့် မဟုတ်ဘဲ ထိန်းသိမ်း စောင့်ရှောက်သော သူများအဖြစ်နှင့် (ဝါ)ထိမ်းမြားလက်ထပ်ယူသော သူများအဖြစ်နှင့် ရှာဖွေတောင်းဆို (ထိမ်းမြား)ကြကုန်။

---

(၁) ထိမ်းမြားခြင်းမပြုရန် မြစ်တားထားသော အမျိုးသမီးများတွင် လင်ရှိမိန်းမများလည်း အပါအဝင် ဖြစ်သည်။ လင်ရှိမိန်းမတယောက်ကို ထိုသူ၏ ခင်ပွန်းက ကွာရှင်း၍ လင်ကွာ “အစ်ဒ်ဒတ်” ရက်မကုန်ဆုံးသမျှ ကာလပတ်လုံး ထိုသို့သော မိန်းမတဦးအား မည်သူတဦးတယောက်၌မျှ ထိမ်းမြားပိုင်ခွင့်မရှိချေ။ သို့ရာတွင် အကယ်၍ လင်ရှိမိန်းမတယောက်သည် စစ်သုံ့ပန်းအဖြစ်နှင့် အကြင်မွတ်စ်လင်မ် တဦးတယောက်၏ လက်တွင်းသို့ ရောက်ရှိလာသော် ထိုမွတ်စ်လင်မ်သည် မိမိ၏ လက်တွင်းသို့ ရောက်ရှိလာသော ထိုလင်ရှိမိန်းမအား တရားတော်နှင့်အညီ ထိမ်းမြားယူနိုင်ပေသည်။

ဥပမာ– “ဒါရုလ်ဟာရ်ဗ်”ခေါ် ကာဖိရ်နိုင်ငံကို မွတ်စ်လင်မ် စစ်သည်တော်များသည် ချီတက်တိုက်ခိုက်အံ့၊ ကာဖိရ်နိုင်ငံတွင် အချင်းချင်း ထိမ်းမြားထားသော ဇနီးမောင်နှံများရှိအံ့၊ မွတ်စ်လင်မ် စစ်သည်တော်များသည် လင်ရှိမိန်းမတယောက်ကို စစ်သုံ့ပန်းအဖြစ် ဖမ်းဆီး၍ ဒါရုလ်အစ္စလာမ်ခေါ် အစ္စလာမ်နိုင်ငံသို့ ယူဆောင်လာအံ့၊ ထိုအချိန်တွင် လင်ရှိမိန်းမအား ဒါရုလ်ဟာရ်ဗ်၌ အသက်ထင်ရှားရှိနေသော ထိုသူမ၏ လင်ခင်ပွန်းက ကွာရှင်းခြင်း မပြုသော်လည်း ထိုမိန်းမအား ပိုင်ဆိုင်သော အကြင် မွတ်စ်လင်မ် ယောကျာ်းသည် တရားတော်စည်းကမ်းချက်နှင့် အညီ သက်ဆိုင်ရာ အစ်ဒ်ဒတ် ရက်ကုန်ဆုံးသည့်အခါ ထိမ်းမြားယူနိုင်ပေသည်။

ထိုမိန်းမ၏ အစ်ဒ်ဒတ်ရက်မှာ ရာသီသွေး တကြိမ်ဆင်းခြင်း၊ သို့တည်းမဟုတ် ကလေး ➢➢

الْفَرِيضَةِ إِنَّ اللَّهَ كَانَ عَلِيمًا حَكِيمًا ﴿٢٤﴾

ပြီးနောက် အသင်တို့သည် ထိုမိန်းမများနှင့် (ဇနီးမောင်နှံအဖြစ်နှင့်) အကျိုးကျေးဇူး ခံစားခဲ့ကြသည်ရှိသော် အသင်တို့သည် ထိုမိန်းမများအား သတ်မှတ် ပြဋ္ဌာန်းပြီးဖြစ်သော မဟ်ရ်ကိုပေးကြကုန်။

သို့ရာတွင် အကယ်၍ အသင်တို့သည် (ယင်းကဲ့သို့) မဟ်ရ်ကို သတ်မှတ်ပြဋ္ဌာန်း ပြီးနောက်တွင်(ထိုမဟ်ရ်ကို တိုးခြင်း၊ လျှော့ခြင်း၊ လုံး၀ ခွင့်လွှတ်ခြင်း၌) မိမိတို့အချင်းချင်း သဘောတူကျေနပ်ကြပါမူ အသင်တို့အပေါ်၌ အပြစ်တစုံတရာ မရှိချေ။

အလ္လာဟ်အရှင်မြတ်သည် မုချဧကန် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသော အရှင်၊ ကျိုးကြောင်းဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင် ဖြစ်တော်မူပေသတည်း။

**(တနည်း)**

ၚင်းအပြင် အသင်တို့ ပိုင်ဆိုင်ခဲ့ကြသော (လင်ရှိ) သုံ့ပန်းမိန်းမများမှတပါး အခြား ထိမ်းသိမ်းစောင့်ရှောက်ပြီးဖြစ်သော (ဝါ) သူတပါးနှင့် ထိမ်းမြားထားသော အိမ်ထောင်သည် မိန်းမတို့သည်လည်း (ဟရာမ်မြစ်တားပြီးဖြစ်၏။) [၂] (ဤသည်) အသင်တို့အပေါ်၌ အလ္လာဟ် အရှင်မြတ် (အထံတော်မှ) သတ်မှတ်ပြဋ္ဌာန်းပြီးဖြစ်သော (အမိန့်တော်ပင်တည်း၊)

➤➤ မျက်နှာမြင်ခြင်းဖြစ်သည်။ ကြည့်-ထာနဝီ။

(၂) ဟဒီဆ်တော်၊ စွန္နတ်တော်များအရ အစီးနှင့်တူမကို တချိန်တည်း ထိမ်းမြားခြင်း၊ အဒေါ်နှင့် တူမကို တချိန်တည်း ထိမ်းမြားခြင်းသည်လည်း ဟရာမ်ဖြစ်သည်။

သို့ရာတွင် ယင်း (ဖော်ပြပါ) မိန်းမတို့မှတပါး အခြားမိန်းမတို့သည် (အကယ်၍) ယင်းမိန်းမတို့အား ကာမဂုဏ် လိုက်စားကြသူများအဖြစ် မဟုတ်ဘဲ အသင်တို့သည် မိမိတို့ ဥစ္စာပစ္စည်းများဖြင့် (ရိုးသားစွာ) ထိန်းသိမ်း စောင့်ရှောက် ကြသူများ အဖြစ် (ဝါ) ထိမ်းမြားလက်ထပ် သူများ အဖြစ်နှင့် အိမ်ထောင်ပြုလိုကြပါမူ အသင်တို့အဘို့ ခွင့်ပြုပြီး ဖြစ်ချေသတည်း။ ၂

တဖန် အသင်တို့သည် ထိုဇနီးမိန်းမများ အနက်မှ မည်သည့်မိန်းမနှင့်မဆို (ဇနီးမောင်နှံအဖြစ်) အကျိုးကျေးဇူး ခံစားခဲ့သည်ရှိကြသော် အသင်တို့သည် ၎င်းမိန်းမတို့အား မဟ်ရ်များကို သတ်မှတ်ပြဋ္ဌာန်းခဲ့သည့်အတိုင်း ပေးဆပ်ကြလေကုန်၊

သို့ရာတွင် အကယ်၍ အသင်တို့သည် (ယင်းကဲ့သို့) မဟ်ရ်ကို သတ်မှတ်အတည်ပြုပြီးသည့်နောက် (ထိုမဟ်ရ်ကို လျှော့ခြင်း၊ တိုးခြင်း၊ လုံးဝခွင့်လွှတ်ခြင်းနှင့် စပ်လျဉ်း၍) မိမိတို့အချင်းချင်း သဘောတူကျေနပ်ကြပါမူ အသင်တို့ အပေါ်ဝယ် ယင်းသည့်အချက်နှင့် စပ်လျဉ်း၍ အပြစ်တစုံတရာမျှ မရှိပေ။

အလ္လာဟ် အရှင်မြတ်သည် ဧကန်စင်စစ် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော်မူသော အရှင်၊ ကျိုးကြောင်းဆင်ခြင်တုံတရားနှင့် ပြည့်စုံ တော်မူသော အရှင်ဖြစ်တော်မူပေသတည်း။

၂၅။ သို့ရာတွင် အသင်တို့ အနက်မှ အကြင်သူသည် လွတ်လပ်သော မုအ်မင်န် အမျိုးသမီးများနှင့်

وَمَنْ لَّمْ يَسْتَطِعْ مِنْكُمْ طَوْلًا

أَن يَنكِحَ الْمُحْصَنَٰتِ الْمُؤْمِنَٰتِ فَمِن مَّا مَلَكَتْ أَيْمَٰنُكُم مِّن فَتَيَٰتِكُمُ الْمُؤْمِنَٰتِ ۚ وَاللَّهُ أَعْلَمُ بِإِيمَٰنِكُم ۚ بَعْضُكُم مِّنۢ بَعْضٍ ۚ فَانكِحُوهُنَّ بِإِذْنِ أَهْلِهِنَّ وَءَاتُوهُنَّ أُجُورَهُنَّ بِالْمَعْرُوفِ مُحْصَنَٰتٍ

ထိမ်းမြားနိုင်ရန် (ကုံလုံကြွယ်ဝ) တတ်စွမ်းနိုင်ခြင်း မရှိခဲ့ပါလျှင် ထိုသို့သောသူသည် အသင်တို့ ပိုင်ဆိုင်ကြသော *မှအ်မင်န်ကျွန်မများ(နှင့် ထိမ်းမြားနိုင်ပေသည်)* [1]

စင်စစ် အလ္လာဟ်အရှင်မြတ်သည် အသင်တို့၏ *“အီမာန်” သက်ဝင်ယုံကြည်မှုကို အသိဆုံးပင်ဖြစ်တော်မူပေသည်။* [2]

အသင်တို့သည် (အာဒမ်နှင့်ဟောင်ဝါမှ ဆင်းသက်လာသော) *သားချင်းများပင်* [3] *ဖြစ်ကြပေသည်။* သို့ဖြစ်ပေရာ အသင်တို့သည် ၎င်းကျွန်မတို့အား ပိုင်ဆိုင်ကြသော သခင်များ၏ ခွင့်ပြုချက်ဖြင့် ထိုကျွန်မများနှင့် ထိမ်းမြား လက်ထပ်ကြကုန်။

---

(၁) “တွောင်လ်” ၏ အဓိပ္ပါယ်မှာ ချောင်ချိခြင်း၊ ကုံလုံကြွယ်ဝခြင်းဟူ၍ ဖြစ်သည်။ ဤနေရာတွင် “တွောင်လ်”၏ အလိုသဘောမှာ မဟ်ရ်နှင့် စားဝတ်နေထိုင်ရေး စသည်တို့အတွက် ကုန်ကျစရိတ်များကိုဆိုလိုသည်။

ကျွန်မဟုတ်သော လွတ်လပ်သော ဂုဏ်အသရေရှိ မွတ်စ်လင်မ်အမျိုးသမီးများနှင့် ထိမ်းမြားရန်အတွက် မဟ်ရ်နှင့် အခြားစားဝတ်နေထိုင်ရေး တို့အတွက် ကုန်ကျစရိတ်များကို မတတ်စွမ်းနိုင်သော သူများသည် မွတ်စ်လင်မ်ကျွန်မများနှင့် ထိမ်းမြားနိုင်ကြပေသည်။ ဤကဲ့သို့ ကျွန်မများနှင့် ထိမ်းမြားရန် ညွှန်ပြထားတော်မူခြင်းမှာ ကျွန်မများအတွက် ကုန်ကျစရိတ်သည် လွတ်လပ်သော အမျိုးသမီးများအတွက် ကုန်ကျရသည့်စရိတ်နှင့် စာလျှင် သက်သာလွယ်ကူခြင်းကြောင့် ဖြစ်ပေသည်။ ထို့ပြင်တဝ ကျွန်မများ၏ သခင်များသည် မရှိဆင်းရဲသော သူများအား မိမိတို့၏ ကျွန်မများနှင့် ထိမ်းမြားပေးခြင်းကို စက်ဆုပ်ရွံရှာကြမည်လည်း မဟုတ်ပေ။ တနည်းအားဖြင့် ကျွန်မများကို မြှောက်စားရာလည်း ရောက်ပေသည်။

(၂) လူသားတို့၏ မြင့်မြတ်ခြင်းသည် “အီမာန်” အပေါ်၌သာလျှင် တည်ရှိပေသည်။ ကျွန်ဖြစ်ခြင်း၊ လွတ်လပ်သူဖြစ်ခြင်းအပေါ်၌ ကား မတည်ရှိပေ။ မာဂျိဒီ။

(၃) အမိုက်ခေတ်တွင် အရပ်လူမျိုးတို့သည် မျိုးရိုးဇာတိကို အကြောင်းပြု၍ အထူးဂုဏ်ယူ ဝါကြွားလေ့ရှိခဲ့ကြ၏။ ကျွန်များကို အလွန်တရာမှ အထင်အမြင် သေးခဲ့ကြ၏။ အမှန်သော်ကား ကျွန်များသည်၎င်း၊ လွတ်လပ်သောသူများသည်၎င်း ဘခင်ကြီးအာဒမ်နှင့် မိခင်ကြီး ဟောင်ဝါတို့မှ ဆင်းသက်ပေါက်ဖွားလာခဲ့ကြသော သူများသာလျှင် ဖြစ်ကြ၏။ ၎င်းပြင် လိုက်နာကျင့်သုံးလျက်ရှိသော သာသနာမှာလည်း အစ္စလာမ် သာသနာပင်ဖြစ်၏ ကျွန်မများနှင့် လွတ်လပ်သော သူများသည် အစ္စလာမ်သာသနာဝင်များချည်း ဖြစ်ကြပေရာ၊ အစစ အရာရာတွင် သာတူညီမျှ ဖြစ်ကြပေသည်။ အခြေအနေအရ အကြောင်းမသင့်၍ သူ့ကျွန်ဖြစ်နေရသူတို့ကို လုံးဝ အထင်အမြင်မသေးသင့်ပေ။

غَيْرَ مُسٰفِحٰتٍ وَّلَا مُتَّخِذٰتِ
اَخْدَانٍ ۚ فَاِذَآ اُحْصِنَّ فَاِنْ
اَتَيْنَ بِفَاحِشَةٍ فَعَلَيْهِنَّ
نِصْفُ مَا عَلَى الْمُحْصَنٰتِ
مِنَ الْعَذَابِ ۚ ذٰلِكَ لِمَنْ
خَشِيَ الْعَنَتَ مِنْكُمْ ۚ وَاَنْ
تَصْبِرُوْا خَيْرٌ لَّكُمْ ۗ وَاللّٰهُ
غَفُوْرٌ رَّحِيْمٌ ﴿٢٥﴾

ငင်းပြင် အသင်တို့သည် တရားဥပဒေနှင့် အညီ ထိုကျွန်မများအား ၎င်းတို့၏ မဟ်ရ်များကို ပေးကြကုန်၊ ထိုကျွန်မများသည် (ထိမ်းမြားခြင်းအား ဖြင့် မိမိတို့၏)ဂုဏ်ရည်ကို ထိန်းသိမ်းစောင့်ရှောက် သူများ ဖြစ်ကြရပေမည်။ ကာမေသုမိစ္ဆာစာရကို ကျူးလွန်သူများ မဖြစ်ကြရပေ။ တိတ်တိတ်ပုံး မိတ်ဖွဲ့ (လင်မြှောင် ထား) သူများလည်း မဖြစ်ကြရပေ။ ထို့ပြင် ထို ကျွန်မများသည် ဇနီးမိန်းမများအဖြစ် ထိမ်းမြား ခြင်းခံရပြီးနောက် အကယ်၍ ကာမေသုမိစ္ဆာစာရကို ကျူးလွန်ခဲ့ကြသော် ထိုကျွန်မတို့အပေါ်၌ (စီရင် အပ်သော အပြစ်ဒဏ်သည်) လွတ်လပ်သော အမျိုး သမီးများအပေါ်၌ စီရင်အပ်သော *အပြစ်ဒဏ်၏ ထက်ဝက်ဖြစ်သည်။* [၁]

ဤ(ကဲ့သို့ ကျွန်မများနှင့် ထိမ်းမြားရန်) အမိန့်တော်သည် အသင်တို့အနက်မှ (ထိမ်းမြားခြင်း မပြုဘဲ နေခဲ့သည်ရှိသော်) ကာမေသုမိစ္ဆာစာရ (ကျူးလွန်မိမည်)ကို စိုးရိမ်သောသူတို့အတွက်ဖြစ်၏။

---

(၁) ကာမေသုမိစ္ဆာစာရကို အကယ်၍(ကြေးကျွန်မဟုတ်သော) လွတ်လပ်သော ဂုဏ်အသရေရှိ မိန်းမပျိုတယောက် က ကျူးလွန်သည်ရှိသော် ၎င်းမိန်းမပျို၏ပြစ်ဒဏ်မှာ ကြိမ်ဒဏ်တရာ (၁၀၀)ဖြစ်သည်။ ရှု-ကုရ်အာန်ကျမ်းမြတ်-(၂၄း၂)။ ကာမေသုမိစ္ဆာစာရကို အကယ်၍ ကျွန်မတယောက်က ကျူးလွန်သည်ရှိသော် ၎င်းကျွန်မ၏ ပြစ်ဒဏ်မှာ လွတ်လပ်သော မိန်းမပျိုတယောက်၏ ပြစ်ဒဏ်၏ထက်ဝက် (ဝါ) ကြိမ်ဒဏ်ငါးဆယ် (၅၀) ဖြစ်သည်။

ကာမေသုမိစ္ဆာစာရကို အကယ်၍ လွတ်လပ်သော လင်ရှိ အမျိုးသမီးတယောက် ကျူးလွန်သည်ရှိသော် ၎င်းလင်ရှိ အမျိုးသမီး၏ပြစ်ဒဏ်မှာ "ရဂျ်မ်" ခဲဖြင့် ပေါက်သတ်ခြင်းဖြစ်သည်။ ကာမေသုမိစ္ဆာစာရ ကျူးလွန်သော ကျွန်မအတွက် အပျိုဖြစ်စေ၊ လင်ရှိဖြစ်စေ ခဲဖြင့်ပေါက်သတ်ခြင်းအပြစ်ဒဏ်မရှိချေ။ ကြိမ်ဒဏ် (၅၀)ပင် ဖြစ်ချေသည်။ အဘယ်ကြောင့်ဟူမူ ခဲဖြင့် ပေါက်သတ်ခြင်း ပြစ်ဒဏ်၏ထက်ဝက် မဖြစ်နိုင်ခြင်းကြောင့်ပင်တည်း။ လွတ်လပ်သော အမျိုးသမီး၏ အပြစ်ဒဏ်နှင့် လွတ်လပ်သော အမျိုးသား၏ ပြစ်ဒဏ်မှာ အတူတူပင်ဖြစ်၏။ ထို့အတူပင် ကျွန်မ၏ပြစ်ဒဏ်နှင့် ကျွန်ယောကျ်ား၏ အပြစ်ဒဏ်သည်လည်း အတူတူပင်ဖြစ်ပေသည်။ မာဂျိဒီ။ ထာနဝီ။

ကာမေသုမိစ္ဆာစာရ ကျူးလွန်မှုနှင့် စပ်လျဉ်း၍ ပြစ်ဒဏ်များအကြောင်းကို "ဟိဒါယဟ်" ကျမ်းတွင်၎င်း၊ အေမာမ်ရာဇီသခင်ရေး "အဟ်ကာမုလ် ကုရ်အာန်" ကျမ်းတွင်၎င်း အကျယ်တဝင့် တွေ့ရှိနိုင်ပေသည်။

ငင်းပြင်အသင်တို့သည် (မိမိတို့၏ စိတ်များကို ချုပ်တည်း၍ ကျွန်မများနှင့်မထိမ်းမြားဘဲ) သည်းခံကြပါမူ အသင်တို့အတို့ပို၍ပင်ကောင်းပေသည်။ [၁]

အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် (ပြစ်မှုများမှ) အလွန်တရာ ချမ်းသာခွင့်ပေးတော်မူသောအရှင်၊ အလွန်တရာ သနားညှာတာ ကရုဏာထားတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

يُرِيدُ اللَّهُ لِيُبَيِّنَ لَكُمْ وَيَهْدِيَكُمْ سُنَنَ الَّذِينَ مِن قَبْلِكُمْ وَيَتُوبَ عَلَيْكُمْ ۗ وَاللَّهُ عَلِيمٌ حَكِيمٌ ﴿٢٦﴾

၂၆။ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အတို့ (မိမိအမိန့်တော်များကို) ရှင်းလင်းဖော်ပြတော်မူရန်လည်းကောင်း၊ အသင်တို့အလျင် ရှိခဲ့ကြသောသူ(တော်စင်) တို့၏ တရားနည်းလမ်း တို့ကို ညွှန်ကြားပြသတော် မူရန်လည်းကောင်း၊ (မိမိ) ကရုဏာတော်နှင့် အသင်တို့ဘက်သို့ ပြန်လှည့်တော်မူရန်လည်းကောင်း ရည်စူးတော်မူလေသည်။

စင်စစ် သော်ကား အလ္လာဟ် အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသောအရှင်၊ ကျိုးကြောင်း ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော် မူသောအရှင်မြတ် ဖြစ်တော် မူပေသတည်း။

وَاللَّهُ يُرِيدُ أَن يَتُوبَ عَلَيْكُمْ وَيُرِيدُ الَّذِينَ

၂၇။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ဘက်သို့ (မိမိ) ကရုဏာတော်ဖြင့် လှည့်တော်မူရန် ရည်စူးတော်မူလေသည်။

---

(၁) အကယ်၍ အကြင်လွတ်လပ်သောသူ တဦးသည် မိမိ၏ စိတ်ကို ချုပ်တည်းနိုင်သည့်အတွက် ထိမ်းမြားခြင်း မပြုဘဲလျက်ပင် ကာမေသုမိစ္ဆာစာရ ကျူးလွန်မိမည်ကို မစိုးရိမ်ရသော် ထိုသို့ လွတ်လပ်သော သူအဘို့ ကျွန်မိန်းမများနှင့် မထိမ်းမြားဘဲ လွတ်လပ်သော အမျိုးသမီးနှင့် ထိမ်းမြားနိုင်သည့် တိုင်အောင် သည်းခံနေခြင်းသည် ပို၍ပင် သင့်မြတ်ပေသည်။ (မာဂျိဒီ)

يَتَّبِعُوْنَ الشَّهَوٰتِ اَنْ تَمِيْلُوْا مَيْلًا عَظِيْمًا ﴿٢٧﴾

သို့ရာတွင် မိမိတို့၏ စိတ်အလိုဆန္ဒများကို *လိုက်စားကြကုန်သော သူတို့မှာကား* [၁] အသင်တို့ (ဖြောင့်မတ် မှန်ကန်သော တရားလမ်းစဉ်မှ) အကြီးအကျယ် ယိမ်းယိုင် ချွတ်ချော် တိမ်းပါးခြင်းကိုသာ ရည်စူးကြကုန်သတည်း။

يُرِيْدُ اللّٰهُ اَنْ يُّخَفِّفَ عَنْكُمْ ۚ وَخُلِقَ الْاِنْسَانُ ضَعِيْفًا ﴿٢٨﴾

၂၈။ အလ္လာဟ်အရှင်မြတ်သည် အသင်တို့၏ ဝန်ကို *လျော့ပေါ့စေတော် မူရန် ရည်စူးတော်မူ၏၊* [၂] စင်စစ်တမူကား လူသားတို့သည် အားအင်ချည့်နဲ့သူများအဖြစ် ဖန်ဆင်းခြင်း ခံခဲ့ကြရလေသတည်း။

يٰۤاَيُّهَا الَّذِيْنَ اٰمَنُوْا لَا تَاْكُلُوْۤا اَمْوَالَكُمْ بَيْنَكُمْ بِالْبَاطِلِ اِلَّاۤ اَنْ تَكُوْنَ تِجَارَةً عَنْ تَرَاضٍ مِّنْكُمْ ۟

၂၉။ အို-"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် မိမိတို့အချင်းချင်း တဘက်နှင့်တဘက် သဘောတူ ကျေနပ်မှုဖြင့် တစုံတရာ ရောင်းဝယ်ဖောက်ကားမှု ပြုလုပ်သည်မှတပါး မိမိဥစ္စာပစ္စည်းများကို မိမိတို့အချင်းချင်း *မတရားသောနည်းနှင့်* [၃] စားသုံးခြင်းမပြုကြကုန်လင့်။ ၎င်းပြင် အသင်တို့သည် မိမိတို့*အချင်းချင်း သတ်ဖြတ်ခြင်းကိုလည်း မပြုကြကုန်လင့်။* [၄]

---

(၁) စိတ်အလိုဆန္ဒများကို လိုက်နာသောသူများဟူသည် မည်သူမည်ဝါများနည်း။ ကုရ်အာန်ကျမ်းလာ အသုံးအနှုန်းကို ထောက်ရှုခြင်းအားဖြင့် စိတ်အလိုဆန္ဒများကို လိုက်နာသောသူများမှာ ကာဖိရ်များ ဖြစ်ကြောင်း ထင်ရှားလှပေသည်။ ဤစကားတွင် ယဟူဒီများ၊ နဆွ်ရာနီများ၊ မဂျူစီများ၊ ကာမေသုမိစ္ဆာစာရကံ ကျူးလွန်သူများ၊ သူယုတ်မာများလည်း အကျုံးဝင်သည်ဟု အသီးသီး အဆိုရှိပေသည်။

စိတ်၏ အလိုဆန္ဒများကို လိုက်နာသောသူများတွင် ယဟူဒီများ၊ နဆွ်ရာနီများ၊ ကာမေသုမိစ္ဆာစာရကို ကျူးလွန်သောသူများနှင့် မမှန်ကန်သောအရာကို လိုက်စားသောသူ အားလုံးတို့သည် အကျုံးဝင်ပေသည်။ အဘယ့်ကြောင့်ဟူမူ အလ္လာဟ်အရှင်မြတ်က မြစ်တားထားတော်မူသော အရာများကို ပြုကျင့်သောသူ အားလုံးတို့သည် မိမိ၏ စိတ်အလိုဆန္ဒကို လိုက်သူများသာ ဖြစ်ခြင်းကြောင့်တည်း။ အိဗ်နုဂျရီရ်။ မာဂျိဒီ။

(၂) အလ္လာဟ်အရှင်မြတ်သည် မဟာကရုဏာတော်ရှင် ဖြစ်တော်မူပေရာ လူသားတို့အား လူသားတို့ ထမ်းဆောင်နိုင်သော တာဝန်များကိုသာလျှင် ထမ်းဆောင်စေတော်မူသည်၊ လူသားတို့ မထမ်းဆောင်နိုင်သော တာဝန်များကိုမူကား လူသားတို့အား ထမ်းဆောင်စေတော်မူရန် တာဝန်ပေးတော်မမူချေ။ လူသားတို့၏ ကိုယ်ခန္ဓာနှင့်တကွ လူသားတို့၏ အတွေးအခေါ် အမြော်အမြင် အားလုံးတို့သည် အားအင်ချည့်နဲ့ ➤➤

وَلَا تَقْتُلُوٓا۟ أَنفُسَكُمْ ۚ إِنَّ ٱللَّهَ كَانَ بِكُمْ رَحِيمًا ﴿٢٩﴾

ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် အသင်တို့အပေါ်ဝယ် အလွန်သနားကြင်နာ ညှာတာတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَمَن يَفْعَلْ ذَٰلِكَ عُدْوَٰنًا وَظُلْمًا فَسَوْفَ نُصْلِيهِ نَارًا ۚ وَكَانَ ذَٰلِكَ عَلَى ٱللَّهِ يَسِيرًا ﴿٣٠﴾

၃၀။ သို့ရာတွင် အကြင်သူသည် ကျူးလွန်ခြင်းအားဖြင့်လည်းကောင်း၊ မတော်မတရား ညှဉ်းပန်းနှိပ်စက်ခြင်းအားဖြင့် လည်းကောင်း၊ ယင်းကဲ့သို့ ပြုလုပ်ပါမူ၊ ငါအရှင်မြတ်သည် ထိုသူအား မကြာမြင့်မီ ငရဲထဲသို့ ထည့်သွင်းတော်မူအံ့။ အမှန်သော်ကား ဤ(ကဲ့သို့ ထည့်သွင်းခြင်း)သည် အလ္လာဟ် အရှင်မြတ်အဘို့ လွယ်ကူသောအမှုပင် ဖြစ်ချေသည်။

إِن تَجْتَنِبُوا۟ كَبَآئِرَ مَا تُنْهَوْنَ عَنْهُ نُكَفِّرْ عَنكُمْ سَيِّـَٔاتِكُمْ

၃၁။ (အို- "မုအ်မင်န်" သင်ဝင်ယုံကြည်သူအပေါင်းတို့၊ အကယ်၍ အသင်တို့သည် မိမိတို့အား မြစ်တားပြီးဖြစ်သော၊ *ကြီးလေးသော ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်၍ နေကြပါမူ၊*[၁]

---

➤➤ နှနယ်သည်သာဖြစ်ပေရာ အလ္လာဟ် အရှင်မြတ်သည် လူသားတို့အဘို့ ပြဋ္ဌာန်းတော်မူသော အမိန့်ပညတ်အရပ်ရပ်၌ လူသားတို့ လွယ်လင့်တကူ လိုက်နာဆောင်ရွက်နိုင်ရန် အလို့ငှါ လွယ်ကူမှုကို အမြဲတစေရှေ့ရှုတော်မူပေသည်။ ရှု ကုရ်အာန် – (၂း ၁၈၅။ ၂း ၂၃၃။ ၂း ၂၈၆။ ၆း ၁၅၂။ ၇း ၄၂။ ၂၃း ၆၂)။ (အီဗ်နုကဆီရ်)၊ (မာရိဖ်ဒီ)

⑨ ဆိုလိုသည်ကား သူတပါး၏ ဥစ္စာပစ္စည်းကို မတရားသဖြင့် စားသုံးခြင်းမပြုရ။ ဥပမာ – သူတပါး၏ ဥစ္စာပစ္စည်းများကို မုသားပြောဆို၍ ၎င်း၊ ကောက်ကျစ်စဉ်းလဲ လှည့်ဖြား၍ ၎င်း၊ ခိုးဝှက်၍ ၎င်း၊ အခြားမည်သည့် မတရားသောနည်းဖြင့် စားသုံးခြင်းအလျင်းမပြုအပ်ပေ။ သို့ရာတွင် တရားသဖြင့် နှစ်ဦးသဘောတူ ရောင်းဝယ်ဖောက်ကားမှုတွင်မူ တရားသဖြင့် စားသုံးပိုင်ခွင့်ရှိပေသည်၊ ('မတရားသဖြင့်' ဟူသော စကားတွင် အစ္စလာမ်တရားတော်နှင့် ဆန့်ကျင်သော ကိစ္စအဝဝအားလုံးသည် အကျုံးဝင်ပေသည်)။

⑩ "အသင်တို့သည် မိမိတို့ကိုယ်ကို သတ်ဖြတ်ခြင်းမပြုကြကုန်လင့်" ဟူသော အမိန့်တော်တွင် သူတပါးကို သတ်ခြင်း၊ ညီနောင်အချင်းချင်း သတ်ခြင်း၊ သာသနာဝင် အချင်းချင်းသတ်ခြင်း၊ မိမိကိုယ်ကို မိမိကိုယ်တိုင် သတ်ခြင်းများ အားလုံးအကျုံးဝင်ပေသည်။ ရှု – မာရိဖ်ဒီ။

① 'ဂုနာဟ် ကဗီရဟ်' ကြီးလေးသော အပြစ်ဟူသည်ကား အဘယ်အပြစ်နည်း။ ဤကိစ္စနှင့် စပ်လျဉ်း၍ 'အီဗ်နုကဆီရ်ကျမ်း' တွင် အဆိုအမျိုးမျိုးတွေ့ရှိရပေသည်။ ဤတွင် အဂ္ဂသာဝကကြီး အဗ်ဒုလ္လါဟ် အီဗ်နု အဗ္ဗါစ်သခင်၏ အဆိုတော်တရပ်ကို ဖော်ပြလိုပေသည်။ ➤➤

وَنُدْخِلْكُمْ مُّدْخَلًا كَرِيمًا ﴿٣١﴾

ငါအရှင်မြတ်သည် အသင်တို့၏(သေးငယ်သော) မကောင်းမှု ဒုစရိုက်တို့ကို အသင်တို့မှ ကျေအေးစေတော်မူ၍ အသင်တို့အား ဂုဏ်သိရ်ထူးကဲ မွန်မြတ်သောဌာနသို့ ဝင်ရောက်စေတော်မူအံ့။

وَلَا تَتَمَنَّوْا مَا فَضَّلَ اللّٰهُ بِهٖ بَعْضَكُمْ عَلٰى بَعْضٍ ؕ لِلرِّجَالِ نَصِيبٌ مِّمَّا اكْتَسَبُوْا ؕ وَلِلنِّسَآءِ نَصِيبٌ مِّمَّا اكْتَسَبْنَ ؕ وَسْـَٔلُوا اللّٰهَ مِنْ فَضْلِهٖ ؕ اِنَّ اللّٰهَ كَانَ بِكُلِّ شَىْءٍ عَلِيمًا ﴿٣٢﴾

၃၂။ ထိုမှတပါးတုံ အလ္လာဟ် အရှင်မြတ်သည် အသင်တို့အနက် အချို့ကိုအချို့ထက် (အရည်အခြင်း -အဆင့်အတန်း:) သာလွန်စေတော်မူခဲ့သည်ကို အသင်တို့သည် အာသာငမ်းငမ်း လောဘ မရှိကြကုန်လင့်။

ယောကျ်ားများအဘို့ ၎င်းတို့ရှာဖွေဆည်းပူးခဲ့ကြသော “အမလ်” ကျင့်ဝတ်(တို့၏ ကုသိုလ်အကျိုးဖြစ်သော) ဝေစုဝေပုံသည် ရှိ၏။ ထိုနည်းတူစွာ မိန်းမများ အဘို့လည်း ယင်းမိန်းမတို့ ရှာဖွေဆည်းပူးခဲ့သော “အမလ်” ကျင့်ဝတ် (တို့၏ ကုသိုလ်အကျိုးဖြစ်သော) ဝေစုဝေပုံသည် ရှိ၏။

သို့ရာတွင် အသင်တို့သည် အလ္လာဟ် အရှင်မြတ်၏ ကျေးဇူးတော်ကို အသနားခံကြလေကုန် အလ္လာဟ် အရှင်မြတ်သည် ဧကန်အမှန် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိရှိတော်မူသော အရှင်မြတ် ဖြစ်တော်မူသတည်း။

---

➤➤ “အသင်တို့သည် မိမိတို့မြစ်တားခြင်းခံရသော ကြီးလေးသော အပြစ်များကို ကြဉ်ရှောင်ကြသည်ရှိသော်” ဟူသော မုက္ခပါဌ်တော်နှင့် စပ်လျဉ်း၍ အဂ္ဂသာဝက ကြီး အိဗ်နုအဗ္ဗါစ်သခင်က ဖွင့်ဟပြောကြားတော်မူသည်မှာ ထိုကြီးလေးသော အပြစ်များဟူသည် အကြင်အပြစ်အားလုံးကို ဆိုလိုသည်၊ ထိုအပြစ်များနှင့် စပ်လျဉ်း၍ အလ္လာဟ် အရှင်မြတ်သည် ငရဲမီးဘေးဖြင့်သော်လည်းကောင်း၊ အမျက်တော်ဖြင့် သော်လည်းကောင်း၊ အပြစ်ဒဏ်ဖြင့်သော်လည်းကောင်း အဆုံးစီရင်ထားတော်မူသည်။ အိဗ်နုဂျရိရ်။

وَلِكُلٍّ جَعَلْنَا مَوَالِيَ مِمَّا تَرَكَ الْوَالِدَانِ وَالْأَقْرَبُونَ ۚ وَالَّذِينَ عَقَدَتْ أَيْمَانُكُمْ فَآتُوهُمْ نَصِيبَهُمْ ۚ إِنَّ اللَّهَ كَانَ عَلَىٰ كُلِّ شَيْءٍ شَهِيدًا ﴿٣٣﴾

၃၃။ ထို့အပြင်တဝ မိဘနှစ်ပါးသည်၎င်း၊ ဆွေမျိုးနီးစပ်တို့သည်၎င်း၊ ထားရှိခဲ့သော အမွေပစ္စည်းများနှင့် စပ်လျဉ်း၍ အားလုံး၌ (အသီးသီး အသက အသကသော) အမွေစားအမွေခံများကို ငါအရှင်မြတ်သည် သတ်မှတ်၍ ထားတော်မူခဲ့လေပြီ။

၎င်းပြင် အသင်တို့သည် မိမိတို့(၏ လက်ျာလက်များဖြင့်) ပဋိညာဉ်ထုံးဖွဲ့ထားသော သူတို့အားလည်း ၎င်းတို့၏ (ထိုက်သင့်သော)ဝေစုဝေပုံကို ပေးကြလေကုန်။ အလ္လာဟ် အရှင်မြတ်သည် မုချဧကန် အရာခပ်သိမ်းတို့ကို (အကြွင်းမဲ့)သိမြင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူလေသတည်း။

الرِّجَالُ قَوَّامُونَ عَلَى النِّسَاءِ بِمَا فَضَّلَ اللَّهُ بَعْضَهُمْ عَلَىٰ بَعْضٍ وَبِمَا أَنْفَقُوا مِنْ أَمْوَالِهِمْ ۚ فَالصَّالِحَاتُ قَانِتَاتٌ حَافِظَاتٌ لِلْغَيْبِ بِمَا حَفِظَ

၃၄။ အလ္လာဟ် အရှင်မြတ်သည် (ယောကျ်ားနှင့် မိန်းမတို့အနက်) အချို့ကို (ယောကျ်ားများကို) အချို့ထက် (မိန်းမများထက်)ပင် အရည်အခြင်း၊ အဆင့်အတန်း၊ သာလွန်စေတော် မူခဲ့သောကြောင့်၎င်း၊ ယောကျ်ားများသည် မိမိတို့၏ ဥစ္စာပစ္စည်းများကို (မိန်းမတို့အား ကျွေးမွေး ထောက်ပံ့ရာတွင်) သုံးစွဲသောကြောင့်၎င်း၊ ယောကျ်ားများသည် မိန်းမတို့အပေါ်၌ *ကြီးကြပ်အုပ်ထိန်းသူများဖြစ်ကြသည်။* [၁]

---

(၁) အလ္လာဟ်အရှင်မြတ်၏ အထံတော်ပါးသို့ ချဉ်းကပ်ရာတွင်၎င်း၊ ကုသိုလ်အကျိုးများကို ခံစားရာတွင်၎င်း အမျိုးသမီးများနှင့် အမျိုးသားများသည် တန်းတူဖြစ်ကြသည့် အကြောင်း အထက်တွင် ရေးသားဖော်ပြခဲ့ပေပြီ။ ဆွလာတ်ဝတ်ပြုမှု၊ ဆွိယာမ် ဥပုသ်ဆောက်တည်မှု၊ ဇကာတ်ပေးဆောင်မှု၊ ဟဂျ်ပြုမှုနှင့် တကွ အခြားခဝပ်ကိုးကွယ်မှုအားလုံးတို့သည် ယောကျ်ားများအပေါ်၌ တာဝန်ရှိသကဲ့သို့ မိန်းမများအပေါ်၌လည်း တာဝန်ရှိသည်။ ယောကျ်ားများ၏ ခဝပ်ကိုးကွယ်မှုများကို အလ္လာဟ်အရှင်မြတ်သည် လက်ခံတော်မူသကဲ့သို့ မိန်းမများ၏ ခဝပ်မှုများကိုလည်း လက်ခံတော်မူ၍ ဝတ်ပြုရန် ယောကျ်ားများအဘို့ အခွင့်အလမ်းများ ရှိသကဲ့သို့ မိန်းမများအဘို့လည်း အခွင့်အလမ်းများရှိ၏။

လောကုတ္တရာရေးရာများတွင် ယောကျ်ားများနှင့် မိန်းမများသည် တန်းတူ ဖြစ်ကြသော်လည်း လောကီရေးကိစ္စများကို စီမံအုပ်ချုပ်မှုများတွင်ကား အမျိုးသမီးများနှင့် အမျိုးသားများသည် တူညီကြ >>

وَالّٰتِىْ تَخَافُوْنَ نُشُوْزَهُنَّ فَعِظُوْهُنَّ وَاهْجُرُوْهُنَّ فِى الْمَضَاجِعِ وَاضْرِبُوْهُنَّ

သို့ဖြစ်ပေရာ သူတော်ကောင်း အမျိုးသမီးတို့သည် (လင်ခင်ပွန်းသည်တို့၏) အမိန့်ကို နာယူသူများသည်လည်းကောင်း၊ ဆိတ်ကွယ်ရာတွင် (လင်ခင်ပွန်းသည်တို့၏ ဥစ္စာပစ္စည်းနှင့် မိမိတို့၏ ကာယိန္ဒြေ သိက္ခာများကို) အလ္လာဟ် အရှင်မြတ်၏ (ကူညီ) စောင့်ရှောက်မှုဖြင့် ထိန်းသိမ်းသူများသည်လည်းကောင်း၊ ဖြစ်ကြကုန်၏။ ၁

➤➤ သည်မဟုတ်ပေ။ အဘနှင့် သားသည် အလ္လာဟ်အရှင်မြတ်၏ ကျွန်ဖြစ်ရာတွင် တူညီကြ၏။ အဘ၏ ကောင်းမှုကိုင်း၊ သား၏ ကောင်းမှုကိုင်း၊ အလ္လာဟ်အရှင်မြတ်သည် လက်ခံတော်မူ၏။ သို့တစေလည်း အစ္စလာမ် တရားတော်၏ ပညတ်ချက်အရပင်လျှင် အဘဖြစ်သူသည် စီမံအုပ်ချုပ်သူဖြစ်၏။ သားသည် စီမံအုပ်ချုပ်ခြင်းခံရသူဖြစ်၏။ အဘဖြစ်သူသည် အမိန့်ပေးသူဖြစ်၏။ သားသည် နာခံရသူဖြစ်၏။ ထို့အတူပင် မိန်းမများနှင့် ယောကျ်ားများသည် အလ္လာဟ်အရှင်မြတ်၏ ကျွန်ဖြစ်ရာတွင် အတူတူ ဖြစ်ကြ၏။ ယောကျ်ားများ၏ ကောင်းမှုများကို အလ္လာဟ်အရှင်မြတ် လက်ခံတော်မူသကဲ့သို့ မိန်းမများ၏ ကောင်းမှုများကိုလည်း လက်ခံတော်မူ၏။ သို့တစေလည်း ယောကျ်ားများသည် စီမံအုပ်ချုပ်သော သူများဖြစ်ကြ၏။ မိန်းမများသည် စီမံအုပ်ချုပ်ခြင်းကို ခံရသူများဖြစ်ကြ၏။ ယောကျ်ားများသည် အမိန့်ပေးကြ၏။ မိန်းမများသည် နာခံကြရ၏။ အကြောင်းသော်ကား အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင်ကပင် 'ဝဟ်ဗီ' အဖြစ်နှင့် ယောကျ်ားတို့အား ကိုယ်ခန္ဓာအားဖြင့်ငင်း၊ အတွေးအခေါ် အမြော်အမြင်အားဖြင့်ငင်း အသာပေးထားတော်မူသည်။ ၎င်းပြင် ယောကျ်ားတို့သည် မိန်းမတို့၏ နေထိုင်စားသောက်ဝတ်ဆင်ရေး အားလုံးတို့အတွက် တာဝန်ခံများလည်း ဖြစ်ကြသည်။ ဤသည့် အကြောင်းကိုပင် ဤမုကဒ္ဒပါဌ်တော်၌ အတည့်အလင်း မိန့်ဆိုထားတော်မူသည်။ ဤကား အမျိုးသမီးတို့အား ယင်းအမျိုးသမီးတို့နှင့် လျော်ကန်သင့်မြတ်သော အဆင့်အတန်းတွင် အစ္စလာမ်သာသနာက စံနစ်တကျ နေရာချထားပေးခြင်းပင်တည်း။

(၁) အလ္လာဟ်အရှင်မြတ်သည် ယောကျ်ားများအား မိန်းမများထက် အသာပေးထားတော်မူ၏။ ယောကျ်ားများသည်လည်း မိန်းမတို့၏ နေထိုင်စားသောက်ဝတ်ဆင်မှု စသည်တို့အတွက် တာဝန်ခံများ ဖြစ်ကြ၏။ သို့ဖြစ်ပေရာ မွတ်စ်လင်မ် မိန်းမမြတ်တို့သည် လင်ခင်ပွန်းတို့၏ အမိန့်များကို နာခံကြရပေမည်။ လင်ခင်ပွန်းတို့ မရှိကြသည့်အချိန် မိမိတို့၏ကာယိန္ဒြေနှင့် တကွ ဥစ္စာပစ္စည်းများကို ကောင်းစွာ ထိန်းသိမ်းစောင့်ရှောက်ကြရပေမည်။

မိန်းမမြတ်တို့၏ ဂုဏ်အင်္ဂါများနှင့် စပ်လျဉ်း၍ တမန်တော်မြတ်၏ ဩဝါဒတော်တရပ်ကို အောက်ပါအတိုင်း တွေ့ရှိရပေသည်။

မိန်းမတို့အနက် အကောင်းဆုံးမိန်းမသည် အကြင်မိန်းမပင်ဖြစ်၏။ အကယ်၍ အသင်သည် ထိုမိန်းမအား ကြည့်လျှင် ထိုမိန်းမသည် အသင့်အား ပျော်ရွှင်စေမည်။ အကယ်၍ အသင်သည် ထိုမိန်းမအား အမိန့်ပေးလျှင် ထိုမိန်းမသည် အသင်၏ အမိန့်ကို နာခံပေမည်။ အကယ်၍ အသင်သည် ထိုမိန်းမထံမှ မျက်ကွယ်ရာသို့ ရောက်ရှိနေလျှင် ထိုမိန်းမသည် မိမိ၏ ကာယိန္ဒြေနှင့် တကွ အသင်၏ ပစ္စည်းများကိုထိန်းသိမ်း စောင့်ရှောက်ထားပေမည်။ (အိဗ်နကျရီရ်)

فَإِنْ أَطَعْنَكُمْ فَلَا تَبْغُوا عَلَيْهِنَّ سَبِيلًا ۗ إِنَّ اللَّهَ كَانَ عَلِيًّا كَبِيرًا ﴿٣٤﴾

သို့ရာတွင် အသင်တို့သည် (အခြေအနေကို ထောက်ထားသုံးသပ် အကဲခပ်ခြင်းအားဖြင့်) အကြင် ဇနီးသည်တို့၏သွေဖည် ပုန်ကန်မှုကို (အကယ်စင်စစ်) စိုးရိမ်ကြသော် (ဦးစွာပဌမ) အသင်တို့သည် ယင်း မိန်းမတို့အား (ယဉ်ကျေးသိမ်မွေ့စွာဖြင့်) သွန်သင် ဆုံးမပဲ့ပြင်ကြလေကုန်။ ထို့နောက် (အကယ်၍ နာယူခြင်းမရှိကြသေးပါမူ) အသင်တို့သည် ထိုမိန်းမ တို့အား အိပ်ခန်းများတွင် (အိပ်ရာများတွင် တဦးထီး တည်းခွဲခွါ) စွန့်ပစ်ထားကြလေကုန်။ ထို့နောက် (အကယ်၍ လိမ္မာရေးခြားမရှိကြသေးပါမူ) အသင် တို့သည် ထိုမိန်းမတို့အား (လွန်ကျူးခြင်းမရှိစေကြဘဲ ဆုံးမသောအနေနှင့်) ရိုက်နှက်ကြလေကုန်။ တဖန် အကယ်၍ ထိုမိန်းမတို့သည် အသင်တို့၏အမိန့်ကို နာခံကြပါမူ အသင်တို့သည် ၎င်းတို့နှင့် ဆန့်ကျင်၍ မည်သည့်နည်းလမ်းကိုမျှ မရှာကြကုန်လင့်။ [၁]

အမှန်စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ် သည် အလွန်မြင့်မြတ်တော်မူသော၊ ကြီးကဲတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) အထက်တွင် ယဉ်ကျေးသိမ်မွေ့သော မိန်းမမြတ်တို့၏ အကြောင်းပါရှိခဲ့လေပြီ၊ ယခုဆက်လက်၍ လင်ခင်ပွန်းတို့အား သွေဖည် ပုန်ကန်သော မိန်းမဆိုးတို့အား မည်သို့ မည်ပုံ ဆုံးမရမည့် အကြောင်း မိန့်ဆို ထားတော်မူသည်။

လင်ခင်ပွန်းတို့သည် ပတ်ဝန်းကျင် အခြေအနေများကို ထောက်ထားသုံးသပ် အကဲခပ်ခြင်းအားဖြင့် ဇနီးမိန်းမတို့၏ မောက်မာ သွေဖည်ပုန်ကန်မှုများကို ရိပ်စားသိရှိကြသောအခါ လင်ခင်ပွန်းတို့သည် ထိုသို့သော ဇနီးမိန်းမတို့အား ဦးစွာ ပဌမ နှုတ်ဖြင့် သွန်သင် ဆုံးမပဲ့ပြင်ကြရမည်။

သို့သွန်သင် ဆုံးမသည်ကို အကယ်၍ နာယူခြင်းမရှိကြပါမူ ဒုတိယအကြိမ် ဆုံးမသည့်အနေဖြင့် ထိုဇနီးမိန်းမများနှင့် တအိပ်ရာထဲတွင် မအိပ်ဘဲ ခွဲ၍အိပ်ကြရမည်။

ယင်းကဲ့သို့ အိပ်ရာခွဲခွာ၍အိပ်သည့် နောက်တွင်လည်း နာယူခြင်းမရှိပါမူ ထိုသို့သော ဇနီးမိန်းမတို့အား တတိယအကြိမ်ဆုံးမသည့်အနေဖြင့် ရိုက်နှက်၍ဆုံးမကြရမည်။ ရိုက်နှက်ဆုံးမရာတွင် အလွန်အကျူး မဖြစ်စေရပေ။

وَإِنْ خِفْتُمْ شِقَاقَ بَيْنِهِمَا فَابْعَثُوا حَكَمًا مِّنْ أَهْلِهِ وَحَكَمًا مِّنْ أَهْلِهَا إِن يُرِيدَا إِصْلَاحًا يُوَفِّقِ اللَّهُ بَيْنَهُمَا إِنَّ اللَّهَ كَانَ عَلِيمًا خَبِيرًا ﴿٣٥﴾

၃၅။ ထိုမှတပါး အကယ်၍ အသင်တို့သည် ယင်းဇနီးမောင်နှံနှစ်ဦးတို့၏ အကြားဝယ် (အကြီးအကျယ်) ပဋိပက္ခ ဖြစ်ပွားမည်ကို စိုးရိမ်ခဲ့ကြပါသော် (၎င်းဇနီးမောင်နှံ နှစ်ဦးတို့၏ ပြဿနာများကို ဖြေရှင်းနိုင်ခြင်းငှါ) ထိုလင်ယောကျ်ား၏ ဆွေမျိုးသားချင်းတို့အနက်မှ ခုံသမာဓိလူကြီးတယောက် ကိုငှင်း၊ ထိုဇနီးမိန်းမ၏ ဆွေမျိုးသားချင်းတို့ အနက်မှ ခုံသမာဓိလူကြီးတယောက်ကိုငှင်း၊ ခန့်အပ်(၍ ယင်းပြဿနာကို ဖြေရှင်းစေ)ကြလေကုန်။ အကယ်၍သာ ယင်း(ခုံသမာဓိလူကြီး)နှစ်ဦးတို့သည် (စိတ်ရောကိုယ်ပါ) ထိုဇနီးမောင်နှံနှစ်ဦးတို့၏ အခြေအနေကို ပြုပြင်ရန်အတွက် ရည်စူးကြပါသော်၊ အလ္လာဟ် အရှင်မြတ်သည် ယင်း (ဇနီးမောင်နှံ) နှစ်ဦးတို့၏ အကြားတွင် (မလွဲဧကန်)သင့်တင့်စေတော်မူအံ့။ ၁

အလ္လာဟ် အရှင်မြတ်သည် မချွတ်ဧကန် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ရှိသိတော်မူသော အရှင်၊ အလုံးစုံတို့ကို အကြွင်းမဲ့ကြားသိတော်မူ သောအရှင်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) ဤအထက်ပါ မုက္ခပါဌ်တော်သည် မွတ်စ်လင်မ် တမျိုးသားလုံးတို့အား ရည်ညွှန်း၍ မိန့်ဆိုထားတော်မူသော မုက္ခပါဌ်တော်ဖြစ်၏။ ဤမုက္ခပါဌ်တော်တွင် အစ္စလာမ် အစိုးရ အာဏာပိုင်များလည်း အကျုံးဝင်၏။

မွတ်စ်လင်မ်အချင်းချင်းသည် ကိုယ်ခန္ဓာတခုတည်းနှင့်ငှင်း၊ အုဋ္ဌ်နံရံရှိအုဋ္ဌ်ချပ်ကလေးများနှင့်ငှင်း အလားသဏ္ဌာန်တူ၏။ မွတ်စ်လင်မ်တဦးချင်းတို့သည် မွတ်စ်လင်မ်တမျိုးသားလုံးနှင့် ဆက်စပ်လျက်ရှိ၏။ မွတ်စ်လင်မ်တဦးချင်း၏ အရေးသည် မွတ်စ်လင်မ်တမျိုးသားလုံး၏အရေးပင်ဖြစ်၏။ အဘယ်ကြောင့်ဆိုသော် တဦးချင်း၏ကောင်းမြတ်မှုအပေါ်တွင် တမျိုးသားလုံး၏ ကောင်းမြတ်မှုသည် တည်ရှိနေခြင်းကြောင့်ပင် ဖြစ်သည်။ ဥပမာ-အိမ်ထောင်တခုတွင် ဇနီးမောင်နှံ ၂-ဦးတို့၏အရေးသည် မွတ်စ်လင်မ်တမျိုးသားလုံး၏ အရေးပင်ဖြစ်၏။ အကယ်၍ ဇနီးမောင်နှံ ၂-ဦးတို့တွင် ပဋိပက္ခဖြစ်ပွားပါက ထိုပဋိပက္ခကို ကျန်မွတ်စ်လင်မ်များသည် လျစ်လျူရှု၍ မထားသင့်ပေ၊ ထိုပဋိပက္ခမှုကိုလျစ်လျူရှုထားပါက ထိုဇနီးမောင်နှံနှစ်ဦးတို့သည် အလွန်တရာမှ ဆိုးရွားသောအဖြစ်သို့ ရောက်ရှိသွားကြမည်။ လင်ခန်းမယားခန်း ပြတ်စဲသွားကြမည်။ ဤသို့ဖြစ်လျှင် မွတ်စ်လင်မ် တမျိုးသားလုံး၏ နစ်နာဆုံးရှုံးမှုတရပ်ပင်ဖြစ်ပေမည်။ ထို့အတွက်ကြောင့်ပင် ဇနီးမောင်နှံနှစ်ဦးတို့တွင် ပဋိပက္ခမှုဖြစ်ပွားက ➢➢

وَاعْبُدُوا اللَّهَ وَلَا تُشْرِكُوا
بِهِ شَيْئًا ۖ وَبِالْوَالِدَيْنِ إِحْسَانًا
وَبِذِي الْقُرْبَىٰ وَالْيَتَامَىٰ
وَالْمَسَاكِينِ وَالْجَارِ ذِي
الْقُرْبَىٰ وَالْجَارِ الْجُنُبِ
وَالصَّاحِبِ بِالْجَنبِ وَابْنِ
السَّبِيلِ وَمَا مَلَكَتْ
أَيْمَانُكُمْ ۗ إِنَّ اللَّهَ لَا يُحِبُّ
مَن كَانَ مُخْتَالًا فَخُورًا ﴿٣٦﴾

**၃၆။** ထို့ပြင် အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား ခဝပ်ကိုးကွယ် ဆည်းကပ်ကြလေကုန်။ ၎င်းပြင် အသင်တို့သည် မည်သည့် တစုံတရာကိုမျှ ထို အရှင်မြတ် နှင့် တွဲဘက် နှိုင်းယှဉ်ခြင်းကို မပြုကြကုန်လင့်။ ထိုမှတပါးတုံ အသင်တို့သည် အမိအဘ နှစ်ပါးတို့နှင့်၎င်း၊ ဆွေမျိုးနီးစပ်တို့နှင့်၎င်း၊ ဘမဲ့ကလေးတို့နှင့်၎င်း၊ အထီးကျန်သူဆင်းရဲတို့ နှင့်၎င်း၊ (အိမ်ချင်း) နီးကပ်သော (တနည်း) ဆွေမျိုးတော်စပ်သော *အိမ်နီးချင်းတို့နှင့်၎င်း၊* [၁] (အိမ်ချင်း) ဝေးလံသော (တနည်း) ဆွေမျိုးတော်စပ်ခြင်းမရှိ သော အိမ်နီးချင်းတို့နှင့်၎င်း၊ (မိမိတို့နှင့်အတူ နေထိုင်သွားလာကြကုန်သော)*အပေါင်းအဖေါ်တို့နှင့်၎င်း၊* [၂] ခရီးသည်တို့နှင့်၎င်း၊ [၃] မိမိတို့၏လက်အောက် ဖြစ်သော (ဝါ) *မိမိတို့ပိုင်ဆိုင်သော ကြေးကျွန်တို့ နှင့်၎င်း၊* [၄] ကောင်းစွာ ဆက်ဆံ ပြုစုကြလေကုန်။

---

➤➤ လင်ခင်ပွန်း၏ ဆွေမျိုးသားချင်းထဲမှ ခုံသမာဓိတဦးနှင့် ဇနီးမိန်းမ၏ ဆွေမျိုးသားချင်းအထဲမှ ခုံသမာဓိလူကြီး တဦးကို စေလွှတ်ပြီး ထိုပဋိပက္ခမှုကို စေ့စပ်ဖြန်ဖြေပေးကြရမည့် အကြောင်း ဤအထက်ပါ မုက္ခပါဌ်တော်တွင် အမိန့်တော်လာရှိလေသည်။

(၁) အိမ်နီးချင်း သုံးမျိုးသုံးစားရှိကြောင်းနှင့် စပ်လျဉ်း၍ တမန်တော်မြတ်က အောက်ပါအတိုင်း မိန့်ကြားတော်မူခဲ့သည်။

အိမ်နီးချင်းသုံးမျိုး သုံးစားရှိ၏။ အချို့အိမ်နီးချင်းအဘို့ တာဝန်သုံးရပ်ရှိ၏။ အိမ်နီးချင်းဖြစ်ခြင်း၏ တာဝန်၊ ဆွေမျိုးဖြစ်ခြင်း၏ တာဝန်၊ မွတ်စ်လင်မ် ဖြစ်ခြင်း၏ တာဝန်။ အချို့ အိမ်နီးချင်းအဘို့ တာဝန်နှစ်ရပ်ရှိ၏။ အိမ်နီးချင်းဖြစ်ခြင်း၏ တာဝန်၊ မွတ်စ်လင်မ် ဖြစ်ခြင်း၏ တာဝန်။ အချို့အိမ်နီးချင်းအဘို့မှာကား တာဝန်တရပ်တည်းသာ ရှိ၏။ အိမ်နီးချင်းဖြစ်ခြင်း၏ တာဝန်။ (အလ်မနာဂ်)

ကုရ်အာန်ကျမ်းမြတ်တွင် အထက်ဖော်ပြပါ အိမ်နီးချင်း သုံးမျိုးသုံးစားလုံး၏ တာဝန်များကို ကျေပွန်ရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

(၂) "အဆွ်ဆွာဟိဗုဇစ်လ်ဂျန်ဗိ" ၏ မူရင်း အဓိပ္ပါယ်မှာ "နံဘေးတွင်ရှိသော အဘော်" ဟူ၍ ဖြစ်သည်။ ဤပုဒ်တွင် ကျောင်းနေဘက်၊ ကစားဘော် ကစားဘက်၊ လုပ်ဘော်ကိုင်ဘက်၊ ကုန်ကူးဘက်၊ ခရီးသွားဘက်၊ ဝတ်ပြုဘက်၊ မိတ်ဆွေသင်္ဂဟ၊ အပေါင်းအဘော် အားလုံးတို့သည် အကျုံးဝင်သည်။ အချို့ပညာရှင်များက နံဘေး၌ရှိသော အဘော်၏ အလိုမှာ ဇနီးမိန်းမကို ဆိုလိုသည်ဟူ၍ ယူဆကြ၏။

ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် *မာနထောင်လွှားသောသူ၊ ဝါကြွားပြောဆိုသောသူကို နှစ်သက်တော်မူသည် မဟုတ်ပေ။*[၁]

الَّذِينَ يَبْخَلُونَ وَيَأْمُرُونَ النَّاسَ بِالْبُخْلِ وَيَكْتُمُونَ مَا آتَاهُمُ اللَّهُ مِن فَضْلِهِ ۗ وَأَعْتَدْنَا لِلْكَافِرِينَ عَذَابًا مُّهِينًا ﴿٣٧﴾

**၃၇။** အကြင်သူတို့သည် မိမိတို့ကိုယ်တိုင်လည်း စေးနဲကြကုန်၏ သူတပါးတို့အားလည်း စေးနဲကြစေရန် ညွှန်ကြားကြ၏။ ထိုမျှသာမကသေး ယင်းသူတို့သည် ၎င်းတို့အား အလ္လာဟ် အရှင်မြတ်က မိမိ ကျေးဇူးတော်နှင့် ပေးသနားတော် မူခဲ့သော အရာများ ကိုလည်း (လှူဒါန်း သုံးစွဲခြင်းမပြုဘဲ) လျှို့ဝှက် ထိမ်ချန်၍ ထားရှိကြ၏။ အမှန်စင်စစ် ငါ အရှင်မြတ်သည် ကျေးဇူးကန်းသော သူတို့အတွက် ဂုဏ်အသရေ ပျက်စီးစေသော အပြစ်ဒဏ်ကို အသင့် ပြင်ဆင် ထားရှိတော်မူသည်။

---

(၃) ဤစကားတွင် ဧည့်သည်များလည်း အကျုံးဝင်သည်။ ခရီးသည်တို့နှင့် ကောင်းစွာ ဆက်ဆံရမည့်အကြောင်းကို ထောက်ရှုခြင်းအားဖြင့် ကောင်းမြတ်သော ရည်ရွယ်ချက်ဖြင့် ခရီးသွားလာခြင်း၊ ယင်းကဲ့သို့ ခရီးသွားလာသူတို့အား ကူညီခြင်းများသည် အဘယ်မျှ မြင့်မြတ်သည်ကို သိရှိနိုင်ပေသည်။

(၄) မိမိတို့ပိုင်ဆိုင်သော ကြေးကျွန်များနှင့်လည်း ကောင်းစွာ ဆက်ဆံကြရမည်။ ပိုင်ဆိုင်သော အရာများတွင် ကြေးကျွန် ကျွဲ၊ နွား၊ သိုး၊ ဆိတ်၊ ကြက်၊ ငှက် စသော တိရစ္ဆာန်များလည်း အကျုံးဝင်ပေသည်။

တမန်တော်မြတ်၏ ဩဝါဒတော်များတွင် ကြေး၊ ကျွန်တို့အား ကောင်းစွာ ကျွေးမွေးရမည့် အကြောင်း၊ ကောင်းစွာ ဝတ်ဆင်ပေးကြရမည့် အကြောင်းများကို အများအပြား တွေ့ရှိရပေသည်။ တမန်တော်မြတ်သည် အလ္လာဟ် အရှင်၏ အမိန့်တော်ကို ခံယူတော် မူခါနီးဆဲဆဲ အချိန်တွင် မှာကြားသွားတော်မူခဲ့သည်၊ မှာကြားချက်များအနက် နောက်ဆုံးမှာကြားချက်မှာ ကြေးကျွန်လက်အောက်ငယ်သားများနှင့်ကောင်းစွာ ဆက်ဆံရမည့် အကြောင်းပင်ဖြစ်သည်။

(၁) သူတပါးနှင့် ကောင်းစွာ ဆက်ဆံရာတွင် မိမိကိုယ်ကို အထင်ကြီးမှုနှင့် ဝါကြွားမှုများသည် အဟန့်အတားပင်ဖြစ်သည်။ ထို့ထက်ပင် ကြီးမားသော အဟန့်အတားကား စေးနဲမှုပင် ဖြစ်သည်။ ထို့အတွက်ကြောင့်ပင် အလ္လာဟ် အရှင်မြတ်သည် မိမိကိုယ်ကို မိမိအထင်ကြီးသောသူကိုငှ်း၊ ကြွားဝါသောသူကိုငှ်း၊ စေးနဲသူကိုငှ်း အလျှင်း နှစ်သက်တော်မူသည် မဟုတ်ချေ။ ထိုသူများသည် မိမိတို့ကိုယ်တိုင်လည်း ပေးကမ်း လှူဒါန်းခြင်းမပြုဘဲ၊ စေးနဲကြ၏။ သူတပါးကိုလည်း စေးနဲရန်ပင် တိုက်တွန်းကြ၏။ မိမိတို့အား အလ္လာဟ်အရှင်မြတ်က ချီးမြှင့်ထားတော်မူသော ဥစ္စာပစ္စည်းများနှင့်တကွ အသိဉာဏ်များကိုလည်း ထိမ်ချန်လျှို့ဝှက်ထားကြ၏။ လှူဒါန်းပြန်သော်လည်း စေတနာမဟုတ် ထင်ပေါ်မှုအတွက်သာ လှူဒါန်းကြ၏။ 

وَالَّذِينَ يُنفِقُونَ أَمْوَالَهُمْ
رِئَاءَ النَّاسِ وَلَا يُؤْمِنُونَ
بِاللَّهِ وَلَا بِالْيَوْمِ الْآخِرِ ۗ
وَمَن يَكُنِ الشَّيْطَانُ لَهُ
قَرِينًا فَسَاءَ قَرِينًا ٣٨

၃၈။ ၎င်းပြင် အကြင်သူတို့သည် မိမိတို့၏ ဥစ္စာပစ္စည်းများကို လူအများတို့အား ပြစားရန်အလို့ငှာ လှူဒါန်း သုံးစွဲကြကုန်၏။ သို့ရာတွင် မှုကား ယင်းသူတို့သည် အလ္လာဟ် အရှင်မြတ်ကိုငှင်း၊ နောက်ဆုံး နေ့ကိုငှင်း၊ ယုံကြည်ကြသည်မဟုတ်ပေ။

အမှန်စင်စစ် မည်သူမဆို "ရှိုင်တွာန်" မိတ္တာကောင်သည် ထိုသူ၏ အပေါင်းအဖေါ်ဖြစ်ခဲ့ပါမူ (ထို "ရှိုင်တွာန်" သည်) အလွန်ဆိုးရွားလှသော အပေါင်းအဖေါ်ပင် ဖြစ်ချေသတည်း။

وَمَاذَا عَلَيْهِمْ لَوْ آمَنُوا
بِاللَّهِ وَالْيَوْمِ الْآخِرِ وَأَنفَقُوا
مِمَّا رَزَقَهُمُ اللَّهُ ۚ وَكَانَ اللَّهُ
بِهِمْ عَلِيمًا ٣٩

၃၉။ ၎င်းပြင် အကယ်၍သာ ယင်းသူတို့သည် အလ္လာဟ် အရှင်မြတ်ကိုငှင်း၊ နောက်ဆုံးနေ့ကိုငှင်း ယုံကြည် ခဲ့ကြပါလျှင် ထိုနည်းတူစွာ ၎င်းတို့သည် မိမိတို့အား အလ္လာဟ် အရှင်မြတ်က ပေးသနားတော်မူခဲ့သော ဥစ္စာပစ္စည်းများကို (ထိုအရှင်မြတ်၏ နှစ်သက်မှုကို ရယူခြင်းငှါ) လှူဒါန်းသုံးစွဲခဲ့ကြပါလျှင် ထိုသူတို့မှာ အဘယ်ကဲ့သို့ နစ်နာသွားရမည်နည်း။ စင်စစ် အားဖြင့် အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့(၏ အခြေအနေ ဖြစ်အင်တို့ကို) ကောင်းစွာ သိရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

إِنَّ اللَّهَ لَا يَظْلِمُ مِثْقَالَ ذَرَّةٍ ۖ
وَإِن تَكُ حَسَنَةً يُضَاعِفْهَا

၄၀။ အမှန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် (အကျိုးပေးတော် မူရာတွင်) မြူမှုန့်ခန့်မျှ မတော် မတရားပြုတော်မူမည် မဟုတ်ပေ။

➤➤ အမှန်သော်ကား ထိုသူများသည် အလ္လာဟ်အရှင်မြတ်ကိုလည်း ယုံကြည်မြတ်နိုးကြသည် မဟုတ်ပေ။ "ကိယာမတ်" နေ့ကိုလည်း ယုံကြည်ကြသည်မဟုတ်ပေ။ ထို့အတွက်ကြောင့်ပင်လျှင် အလ္လာဟ်အရှင်မြတ်သည် ထိုသူများ ခံစားကြရန်အတွက် အလွန်တရာမျှ ဆိုးရွားလှသော ပြစ်ဒဏ်ကို အသင့်ပြုလုပ်ထားတော်မူခြင်း ဖြစ်သည်။

وَيُؤْتِ مِن لَّدُنْهُ أَجْرًا عَظِيمًا ﴿٤٠﴾

စင်စစ် အကယ်၍ ကောင်းမှုတရပ် ဖြစ်ခဲ့ပါလျှင်၊ ထိုအရှင်မြတ်သည် ယင်းကောင်းမှုကို ဆထက်ထမ်းပိုး တိုးပွားစေတော်မူအံ့၊ ကုသိုလ်အကျိုးပေးသနားတော်မူအံ့။ ၎င်းပြင် မိမိအထံတော်မှ အလွန် ကြီးကျယ်သော အကျိုးဆုလာဘ် ကိုလည်း ခြီးမြှင့်ပေးသနားတော်မူအံ့။

فَكَيْفَ إِذَا جِئْنَا مِن كُلِّ أُمَّةٍ بِشَهِيدٍ وَجِئْنَا بِكَ عَلَىٰ هَٰؤُلَاءِ شَهِيدًا ﴿٤١﴾

၄၁။ တဖန် ငါအရှင်မြတ်သည် ("ကိယာမတ်" ရှင်ပြန် ထမည့်နေ့တွင်) သာသနာဝင် အသီးသီးတို့မှ သက်သေ တဦးကျစီ ခေါ်ယူတော်မူအံ့။ [၁] ၎င်းပြင် ငါအရှင်မြတ်သည် အသင် (မုဟမ္မဒ်) အားလည်း ထိုသူတို့အတွက် သက်သေအဖြစ် ခေါ်ယူတော်မူအံ့။ ထိုအခါ ("ကာဖိရ်" သွေဖည်ငြင်းဆန်သော သူတို့၏ အဖြစ်သည်) မည်ကဲ့သို့ ဖြစ်ပါအံ့နည်း။

---

(၁) လောကမှာရှိစဉ် အလ္လာဟ်အရှင်မြတ်၏ တရားဒေသနာတော်များကို သွေဖည်ငြင်းဆန်သောသူတို့ကို "ကိယာမတ်" နေ့တွင်စစ်ဆေးတော်မူသည့်အချိန်၌ အလ္လာဟ်အရှင်မြတ်သည် သက်ဆိုင်ရာ နဗီတမန်တော်များအား သက်သေတော်များအဖြစ် ခေါ်ယူတော်မူမည်။

ထိုနဗီ တမန်တော်များ သည်လည်း မိမိတို့ အသက်ထင်ရှားရှိစဉ် တွေ့ကြုံခဲ့သမျှသော အကြောင်းခြင်းရာများကို ဟုတ်တိုင်းမှန်ရာ ထွက်ဆို အစီရင်ခံကြမည်။ ယင်းကဲ့သို့ နဗီ တမန်တော်များ ထွက်ဆို အစီရင်ခံကြသည့်အခါ ဒေသနာတော်များကို သွေဖည်ငြင်းဆန်သော သူများသည် မှုပြစ် အထင်အရှားဖြစ်ပြီး ပြစ်ဒဏ်ခတ်ရိုက် စီရင်တော်မူခြင်းကို ခံကြရပေမည်။ (ထာနဝီ)

ကုရ်အာန်ကျမ်းမြတ်တွင် "ငါအရှင်မြတ်သည် အသင့်အား ဤသူများနှင့် ပတ်သက်၍ သက်သေအဖြစ် ခေါ်ယူတော်မူမည်" ဟု ပါရှိ၏။ ဤမုကဒ္ဒပါဌ်တော်တွင်ပါရှိသော ဤသူများအား မည်သူများနည်း၊ ဤတွင် အဆိုပြားလျက်ရှိသည်။

(က) "ဤသူများ" ဟူသည် နဗီတမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) သက်တော်ထင်ရှားရှိစဉ် ကုရ်အာန်ကျမ်းမြတ်ကို ကြားနာကြရသော သူများကို ဆိုလိုသည်။ ရှု - ကဗီရ်။

(ခ) အခြား အဆိုတရပ်အရ "ဤသူများ" ဟူသည် လူမျိုးအသီးသီးတို့နှင့် ပတ်သက်၍ သက်သေ ထွက်ဆိုကြမည့် နဗီတမန်တော်များကို ဆိုလိုသည်ဟူ၏။ ➤➤

يَوْمَئِذٍ يَوَدُّ الَّذِينَ كَفَرُوا وَعَصَوُا الرَّسُولَ لَوْ تُسَوَّىٰ بِهِمُ الْأَرْضُ وَلَا يَكْتُمُونَ اللَّهَ حَدِيثًا ﴿٤٢﴾

၄၂။ အကြင်သူတို့သည် (အလ္လာဟ် အရှင်မြတ်အား) မယုံမကြည် သွေဖည် ငြင်းပယ်ခဲ့ကြ၏။ ရဆူလ် တမန်တော်ကိုလည်း မထီမဲ့မြင်ပြုခဲ့ကြ၏။ ထိုနေ့တွင် ထိုသူတို့က ၎င်းတို့သည် မြေကြီးနှင့် တသားတည်း ဖြစ်သွားခဲ့ပါလျှင် ကောင်းလေစွဟု တောင့်တကြမည်။ စင်စစ်သော်ကား ယင်းသူတို့သည် အလ္လာဟ် အရှင်မြတ်အပေါ်၌ မည်သည့်စကားကိုမျှ ဖုံးအုပ်ထားနိုင်ကြမည်လည်း မဟုတ်ချေ။

يَا أَيُّهَا الَّذِينَ آمَنُوا لَا تَقْرَبُوا الصَّلَاةَ وَأَنْتُمْ سُكَارَىٰ حَتَّىٰ تَعْلَمُوا مَا تَقُولُونَ وَلَا جُنُبًا إِلَّا عَابِرِي سَبِيلٍ حَتَّىٰ تَغْتَسِلُوا ۚ وَإِنْ كُنْتُمْ

၄၃။ အို-"မုအ်မင်န်" သက်ဝင်ယုံကြည်သူ အပေါင်းတို့ အသင်တို့သည် မူးယစ်နေကြစဉ် မိမိတို့ (နှုတ်ဖြင့်) ထွက်ဆိုသော စကားကို ကောင်းစွာ မသိနားမလည် သမျှ ကာလပတ်လုံး "ဆွလါတ်" ဝတ်ပြုမှု၏ အပါးသို့ပင် မချဉ်းကပ်ကြလေနှင့်။ ထိုနည်းတူစွာ အသင်တို့သည်၊ ခရီးသည် အဖြစ်မှ တပါးအခြားအချိန်အခါမျိုးတွင် "ဂျနာဗတ်" ရေချိုးရန် *တာဝန်ရှိသူများ ဖြစ်နေကြပါလျှင်* [၁] ရေမချိုးသမျှ ကာလပတ်လုံး ("ဆွလာတ်" ဝတ်ပြုခြင်း၏ အပါးသို့ ချဉ်းကပ်ခြင်းကို) မပြုကြကုန်လင့်။

---

➤➤ တမန်တော်မြတ်၏ စေခိုင်းချက်အရ သာဝကကြီး အစ်ဗ်နု မာစ်အူဒ်သည် ကုရ်အာန်ကျမ်းလာ အမျိုးသမီးကဏ္ဍကို စတင်ရွတ်ဘတ်ရာ ဤမုက္ခပါဌ်တော် (၄း၄၁) သို့ ရောက်သောအခါ (တမန်တော်မြတ်သည် မိမိ၏ တာဝန်ကြီးမားပုံနှင့် တကွ၊ နောက်လိုက်တပည့်သားတို့၏ နောင်ရေးကို မြော်တွေးမိသဖြင့်) မျက်လုံးတော်အစုံမှ မျက်ရည်များ စီးဆင်းယိုကျလာလေသည်။ ရှု - အလ်မနာရ်။ မာဂျိဒီ။

နဗီတမန်တော်မြတ်သည်ပင် ကိယာမတ်နေ့တွင် ဖြစ်ပျက်မည့် အရေးကို မြော်တွေးမိသဖြင့် မျက်ရည်ကျတော်မူခဲ့လေသည်။ ကျွန်ုပ်တို့ မွတ်စ်လင်မ်များသည် ဤသည့်အချက်ကို ဆင်ခြင်စဉ်းစားသတိထား၍ တရားသံဝေဂရသင့်ပေသည်။

(၁) 'ဂျုနုဗ်' ဟူသော စကားသည် 'ဂျနာဗတ်' ဟူသော မူရင်းပုဒ်မှ ဆင်းသက်လာ၏။ 'ဂျနာဗတ်' ၏ မူရင်းအဓိပ္ပါယ်မှာ ဝေးကွာခြင်း ဟူ၍ ဖြစ်၏။ 'ရှရီအတ်' ပဋိပါတ်တွင် 'ဂျနာဗတ်' ဟူသည် သုတ်လွှတ်ခြင်းကြောင့်၎င်း၊ သံဝါသ စပ်ယှက်ခြင်းကြောင့်၎င်း ရေချိုးရန် တာဝန်ရှိလာသည့်အဖြစ်ကို ဆိုလိုသည်။ 'ဂျုနုဗ်' ဟူသည် 'ဂျနာဗတ်' ဖြစ်သည့်အတွက် ရေချိုးရန် တာဝန်ရှိသောသူများကို ဆိုသည်။ ➤➤

مَّرْضَىٰٓ اَوْ عَلٰى سَفَرٍ اَوْ جَآءَ
اَحَدٌ مِّنْكُمْ مِّنَ الْغَآئِطِ
اَوْ لٰمَسْتُمُ النِّسَآءَ فَلَمْ تَجِدُوْا
مَآءً فَتَيَمَّمُوْا صَعِيْدًا
طَيِّبًا فَامْسَحُوْا بِوُجُوْهِكُمْ
وَاَيْدِيْكُمْ ۗ اِنَّ اللّٰهَ كَانَ عَفُوًّا
غَفُوْرًا ﴿٤٣﴾

(တနည်း) အသင်တို့သည် ဖြတ်သန်းသွားလာခြင်းမှတပါး အခြားအချိန်အခါမျိုးတွင် "ဆွလာတ်" [၁] ဝတ်ပြုရာဌာနဖြစ်သော ဗလီကျောင်းတော်၏ အပါးသို့ မချဉ်းကပ် ကြလေနှင့်။

သို့ရာတွင် အသင်တို့သည် အကယ်၍ ဝေဒနာသည်များ၊ သို့မဟုတ် ခရီးသည်များဖြစ်ကြလျှင်ငှင်း၊ သို့တည်းမဟုတ် အသင်တို့အနက်မှ တဦးတယောက်သောသူသည် ကျင်ကြီးကျင်ငယ် စွန့်ရာမှ ပြန်လာခဲ့သည် ဖြစ်လျှင်ငှင်း၊ သို့မဟုတ် အသင်တို့သည် ဇနီးမိန်းမများနှင့် မေထုန်သံဝါသ [၂] ပြုခဲ့ကြသည်ဖြစ်လျှင်ငှင်း၊ ထိုအချိန်တွင် အသင်တို့သည် (ရေချိုးရန် အတွက်သော်ငှင်း၊ ဝုဇူပြုရန် အတွက်သော်ငှင်း) ရေမရရှိကြလျှင်ငှင်း၊ အသင်တို့သည် စင်ကြယ်သောမြေဖြင့်တယမ်မွမ်မ် [၃] ပြုကြလေကုန်၊

➤➤ 'ဂျုနုဗ်' ဟူသောပုဒ်သည် ဧကဝုစ်၊ ဗဟုဝုစ်။ ဣတ္ထိလိင်၊ ပုလ္လိင် အားလုံးအတွက် အသုံးဖြစ်ချေသည်။ 'ဂျနာဗတ်' ဖြစ်ပြီးနောက် ရေချိုးရခြင်းသည် 'ဖရည္ဍ်' တာဝန်ဖြစ်သည်။ ရေမချိုးနိုင်ရန်အကြောင်း တစုံတရာမရှိဘဲ ရေမချိုးသမျှ ကာလပတ်လုံး ဆွလာတ်ဝတ်ပြုခွင့်မရှိချေ။

'ဂျာနဗတ်' ဟု မှည့်ခေါ်ရခြင်းအကြောင်းမှာ 'ဂျနာဗတ်' သည် ရှရီအတ်တရားတော်အရ ဆွလာတ်ဝတ်ပြုမှုနှင့် ဝေးကွာရခြင်း၏ အကြောင်းဖြစ်ခြင်းကြောင့်တည်း။ (ရာဃိဗ်)

'ဂျနာဗတ်' ဖြစ်ပြီးနောက် ရေချိုးခြင်းသည် ဖရည္ဍ်ဖြစ်သည်။ ရေမချိုးဘဲလျှက် ဆွလာတ်ဝတ်ပြုမှုသည် မပိုင်ပေ။ ယောကျာ်းသုတ်လွှတ်ခြင်း၊ မိန်းမရာသီသွေးဆင်းခြင်း၊ မိန်းမနှင့် ယောကျာ်း မေထုန်မှုပြုခြင်း (သုတ်လွှတ်သည်ဖြစ်စေ၊ သုတ်မလွှတ်သည်ဖြစ်စေ) ဤအဖြစ်များအားလုံးသည် 'ဂျနာဗတ်' တွင် အကျုံးဝင်သည်။

မာဂျိဒီ။ အ-၁။ စ-၁၉၃။ အအ-၅၅၇။

၁ ဤမုက္ခပါတ်တော်တွင် ပါရှိသော ဆွလာတ်ဟူသော ပုဒ်၏ အလိုသဘောမှာ ဆွလာတ်ဝတ်ပြုရာဌာနများ (ဝါ) ဗလီများဟူ၍လည်း အနက်ဖွင့်ကြသည်။

ဆွလာတ်ဟူသည် ဆွလာတ် ဝတ်ပြုရာ ဌာနများ (ဝါ) မတ်စ်ဂျစ်ဒ် ဗလီများကို ဆိုလိုသည်။

မဒါရစ်က်။

ဆွလာတ်၏ အလိုသဘောကို ဆွလာတ်ဝတ်ပြုရာ ဌာနဟူ၍ အနက်ဖွင့်ကြသော ဓမ္မသတ်ရှင်များက 'သို့ရာတွင် ဖြတ်သန်းသွားသူများ' ဟူသော မုက္ခပါဋ်တော်အရ ဂျနာဗတ်ဖြစ်သော ပုဂ္ဂိုလ်များသည် မလွဲမရှောင်သာသည့်အခါတွင် ဗလီတွင်းမှ ဖြတ်သန်းသွားလာ ပိုင်ခွင့်ရှိသည်ဟု ဓမ္မသတ်ရေးမှတ်ကြသည်။

(တယမ်မွန်မ် ပြုနည်းကား) အသင်တို့သည် (လက်ဝါး နှစ်ဘက်ဖြင့် မြေကိုရိုက်ပုတ်၍) မိမိတို့၏ မျက်နှာနှင့် လက်များကို ပွတ်သပ် ကြလေကုန်။ အလ္လာဟ် အရှင်မြတ်သည် မုချဧကန် အလွန်တရာ ခွင့်လွှတ်တော် မူသောအရှင်၊ အလွန်တရာ ချမ်းသာခွင့် ပေးသနားတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

၄၄။ အသင်သည် ကျမ်းဂန်များအနက် တစိတ်တဒေသကို ခြီးမြှင့်ပေးသနားတော်မူခြင်း ခံကြရကုန်သောသူတို့၏ (ဖြစ်အင်)ကို မတွေ့မမြင်ပါလေသလော။

أَلَمْ تَرَ إِلَى الَّذِينَ أُوتُوا نَصِيبًا مِّنَ الْكِتَابِ يَشْتَرُونَ الضَّلَالَةَ وَيُرِيدُونَ أَن

---

⑫ 'လမ်စ်' နှင့် 'မတ်စ္စ' ဟူသော ပုဒ်များ၏ မူရင်းအဓိပ္ပါယ်မှာ 'ထိခြင်း' ဟူ၍ ပင်ဖြစ်သည်။ ထို့အတွက်ကြောင့် အချို့ 'ဖကီဟ်' ဓမ္မသတ်ရှင်များက ဤမုကဒ္ဒပါဠ်တော်တွင် မိန်းမများကို သာမန်ထိခြင်း ဟူ၍ပင် အနက် ကောက်ပြီး မိန်းမများအား ထိခြင်းသည် ဝူဇူ ပျက်စေသော အကြောင်းတရပ် ဖြစ်သည်ဟု ယူဆကြသည်။ သို့ရာတွင် 'လမ်စ်' ၏ အနက်မှာ သံဝါသ စပ်ယှက်ခြင်းဖြစ်၏။

ကုရ်အာန်ကျမ်းမြတ်တွင် 'မတ်စ္စ'၏ အနက်မှာ သံဝါသ စပ်ယှက်ခြင်းပင် ဖြစ်သည်။ ရှု-ကုရ်အာန် (၂း ၂၃၆)။ သို့အတွက်ကြောင့် ဟနဖီ ဓမ္မသတ်ရှင်များသည် 'လမ်စ်' ၏ အနက်ကိုလည်း သံဝါသ စပ်ယှက်ခြင်းဟူ၍ ကောက်ယူကြလေသည်။

ဤအဆိုသည် ခိုင်လုံသော အဆိုဖြစ်သည်။ သာဝကကြီး အလီသခင်၊ သာဝကကြီး အဗ်ဒုလ္လာဟ် အီဗ်နုအဗ္ဗါစ် တို့ကလည်း ဤအတိုင်းပင် ဖွင့်ဆိုကြသည်။ ထို့အတူ ဟစန်၊ မုဂျာဟိဒ်၊ ကတာဒဟ်၊ တွာအူစ်။ အဗိုက်ဒ် အီဗ်နုအုမိုင်ရ်၊ စအီဒ် အီဗ်နုဂျုဗိုင်ရ်၊ ရှအ်ဗီ၊ မုကာတိလ် စသည့် ဓမ္မသတ်ရှင်များကလည်း ဤအတိုင်းပင် ဆုံးဖြတ်ကြသည်။

⑬ ရေချိုးရန် တာဝန်ရှိသော်လည်း ရေမချိုးနိုင်ရန် အကြောင်းများမှာ ဥပမာ-ရောဂါသည်တဦးသည် ရေကို အသုံးပြုခြင်းဖြင့် ရောဂါပိုမို ပြင်းထန်လာမည်ကို စိုးရိမ်ရသောအခါ၌သော်၎င်း၊ ခရီးသည်တစ်ဦးသည် ရေမရရှိသောအခါသော်၎င်း၊ တဦးတယောက်သောသူသည် ကျင်ကြီးကျင်ငယ်စွန့်ပြီး ရေမရရှိသော အခါ၌ သော်၎င်း၊ သံဝါသ စပ်ယှက်ပြီးနောက် 'ဂုနာဗတ်' ရေချိုးရန်အတွက် ရေမရရှိသော အခါ၌သော်၎င်း၊ ရေရှိသော်လည်း သုံးနိုင်စွမ်းမရှိသည့် အခါ၌သော်၎င်း 'တယမ်မွန်မ်' ပြုပိုင်ခွင့်ရှိပေသည်။

'တယမ်မွန်မ်' ဟူသည် သန့်စင်သော မြေကို လက်နှစ်ဘက်ဖြင့် ပဌမအကြိမ် ပုတ်၍ မျက်နှာကို ပွတ်သပ်ပြီး ထိုကဲ့သို့ပင် ဒုတိယအကြိမ်မြေကိုပုတ်၍ လက်နှစ်ဘက်ကို တတောင်ဆစ်အထိ ပွတ်သပ်ခြင်းကို ဆိုသည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ အကျယ်ကို 'ဟိဒါယဟ်' ကျမ်းတွင်ရှုပါ။

تَضِلُّوا السَّبِيلَ ﴿٤٤﴾

ထိုသူတို့သည် (လမ်းမှန်ကို စွန့်၍) လမ်းမှား ကို လိုက်စားကြသည်။ ၎င်းပြင် အသင်တို့ လမ်းမှား ခြင်းကိုလည်း လိုလားကြသည်။ [၁]

وَاللَّهُ أَعْلَمُ بِأَعْدَائِكُمْ ۚ
وَكَفَىٰ بِاللَّهِ وَلِيًّا وَكَفَىٰ
بِاللَّهِ نَصِيرًا ﴿٤٥﴾

၄၅။ အမှန်စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ် သည် အသင်တို့၏ရန်သူများကို ကောင်းစွာသိရှိတော် မူလေသည်။ ၎င်းပြင် အလ္လာဟ် အရှင်မြတ်သည် (အသင်တို့အဘို့) ပြုစု စောင့်ရှောက်တော်မူသော မိတ်သဟာယအဖြစ်လည်း လုံလောက်တော် မူပေသည်။ ထို့မှတပါး အလ္လာဟ်အရှင်မြတ်သည် (အသင်တို့အဘို့) ကူညီစောင်မတော် မူသောအရှင်မြတ် အဖြစ်လည်း လုံလောက်တော်မူပေသတည်း။

مِنَ الَّذِينَ هَادُوا يُحَرِّفُونَ
الْكَلِمَ عَنْ مَوَاضِعِهِ وَ
يَقُولُونَ سَمِعْنَا وَعَصَيْنَا
وَاسْمَعْ غَيْرَ مُسْمَعٍ وَرَاعِنَا
لَيًّا بِأَلْسِنَتِهِمْ وَطَعْنًا فِي
الدِّينِ ۚ وَلَوْ أَنَّهُمْ قَالُوا سَمِعْنَا

၄၆။ ယဟူဒီဖြစ်ကြကုန်သော သူတို့အနက် အချို့ သည် (ကျမ်းဂန်လာမူရင်း) စကားရပ်များကို ၎င်းတို့ ၏မူရင်းနေရာများမှ ရွှေ့ပြောင်းကြသည်သာမက [၂] ယင်းသူတို့သည် (အသင်နှင့် လာရောက်တွေ့ဆုံကြ သောအခါများတွင်) "စမစ်အ်နာ ဝအဆွိုင်နာ" ဟူ၍ လည်းကောင်း၊ 'အစ္စမအ်၊ဃိုင်ရမုစ္စမအင်န်" ဟူ၍ လည်းကောင်း၊ မိမိတို့၏လျှာများကို လိပ်ခေါက်ကာ "ရာအိနာ" ဟူ၍လည်းကောင်း၊ "ဒီန်" သာသနာကို ပုတ်ခတ်ထိပါးစေခြင်းအားဖြင့် ပြောဆိုလေ့ရှိကြ လေသည်။ [၃]

---

① **ဆက်စပ်မှု**

ကုရ်အာန်ကျမ်းမြတ်(၄း၃၆)၏ အဆုံးတွင် 'အလ္လာဟ်အရှင်မြတ်သည် မာနထောင်လွှား ဝါကြွား ပြောဆိုသောသူကို နှစ်သက်တော်မူသည်မဟုတ်ချေ' ဟူသော မုက္ခပါဠ်တော်မှ (၄း၄၂)အထိ ယဟူဒီများ၏ ဆိုးသွမ်းမှုများ အကြောင်းပါရှိ၏။ (၄း၄၃)တွင် အထူးဆက်စပ်မှု တခုရှိနေသည့်အတွက် ဂျနာဗတ် ဖြစ်နေသည့်အချိန်နှင့် မူးယစ်နေသည့်အချိန်များတွင် ဆွလာတ်ဝတ်မပြုရမည့် အကြောင်းပါရှိ၏။ (၄း၄၄)မှ တဖန် ဆက်လက်၍ ယဟူဒီများ၏ ငြင်းပယ်မှု၊ လမ်းမှားလိုက်စားမှုများအကြောင်း မိန့်ဆိုထားတော်မူ၏။ ဤကဲ့သို့ ယဟူဒီများ၏ ဆိုးသွမ်းမှုများ အကြောင်းကို မိန့်ဆိုတော်မူခြင်းမှာ ထိုယဟူဒီများနှင့်တကွ ➤➤

وَأَطَعْنَا وَاسْمَعْ وَانْظُرْنَا لَكَانَ خَيْرًا لَّهُمْ وَأَقْوَمَ وَلَٰكِن لَّعَنَهُمُ اللَّهُ بِكُفْرِهِمْ

စင်စစ်သော်ကား အကယ်၍သာ ထိုသူတို့သည် "စမစ်အ်နာ၊ဝအတွာအ်နာ"ဟူ၍လည်းကောင်း၊ "အစ္စမအ်၊ဝါန်ဇုရ်နာ" ဟူ၍လည်းကောင်း၊ ပြောဆိုခဲ့ကြပါမူ၊ မချွတ်ဧကန် ထိုသူတို့အဘို့ အကောင်းဆုံးနှင့် အမှန်အကန်ဆုံးပင် ဖြစ်ခဲ့ပေအံ့။ [၁]

---

➤➤ အခြားသူများပါ သတိသံဝေဂ ရရှိစေရန်ဖြစ်သည်။

ယဟူဒီများသည် 'တောင်ရာတ်' ကျမ်းဂန်ကို ရရှိခဲ့ကြပါလျက် လမ်းမှားကို လိုက်စားခဲ့ကြသည်။ မွတ်စ်လင်မ်များကိုလည်း လမ်းမှားစေရန် အမျိုးမျိုးကြံစည် အားထုတ်ခဲ့ကြလေသည်။ ဤအကြောင်း ကုရ်အာန်ကျမ်းမြတ် (၃း၆၈။ ၃း၉၉) တွင်လည်းပါရှိ၏။

(၂) ယဟူဒီများသည် ကျမ်းဂန်လာ စကားများကို အက္ခရာအားဖြင့်၎င်း၊ အနက်အဓိပ္ပါယ်အားဖြင့်၎င်း ကပြောင်းကပြန် ပြုလုပ်ခဲ့ကြပေသည်။

(၃) ယဟူဒီများ၏ ယုတ်မာမှုများအနက် ယုတ်မာမှုတရပ်မှာ ယင်းသူတို့သည် တမန်တော်မြတ်နှင့် စကားပြောဆိုကြသည့်အခါ ကဲ့ရဲ့ရှုံ့ချလိုသော စေတနာဖြင့် ကောင်းသော အဓိပ္ပါယ်ကို၎င်း၊ မကောင်းသော အဓိပ္ပါယ်ကို၎င်း အဓိပ္ပါယ်နှစ်မျိုး နှစ်စားဆောင်သော စကားမျိုးကို သုံးစွဲ၍ စိတ်တွင်းမှ မကောင်းသော အနက်သဘောကိုသာ ယူဆကာ ပြောဆိုလေသည်။

ယဟူဒီများ သုံးစွဲသောစကားများအနက် စကားတရပ်မှာ 'စမစ်အ်နာ ဝအဆွိုင်နာ' ဖြစ်သည်။ ဤစကား၏ မူလအဓိပ္ပါယ်မှာ 'ကျွန်ုပ်တို့ကြားပါ၏။ ကျွန်ုပ်တို့ မနာခံပါ' ဟူ၍ဖြစ်သည်။ ဤစကား၏ ကောင်းသော အဓိပ္ပါယ်မှာ ကျွန်ုပ်တို့သည် (အသင်၏ ဩဝါဒများကို) ကြားပါသည်။ ကျွန်ုပ်တို့သည် (အသင်၏ ရန်သူတို့၏ စကားကို) မနာခံပါဟူ၍ ဖြစ်သည်။ ဤစကား၏ မကောင်းသော အဓိပ္ပါယ်မှာ ကျွန်ုပ်တို့သည် (အသင်၏ စကားကို) ကြားပါ၏။ (သို့ရာတွင် အသင်၏ စကားကို) မနာခံပါဟူ၍ ဖြစ်သည်။

၎င်းပြင် ဒုတိယစကားတရပ်မှာ 'အစ်စမအ် ဃိုင်ရမွတ်စ်မအင်န်' ဖြစ်သည်။ ဤစကား၏ အဓိပ္ပါယ်မှာ 'အသင်ကြားပါစေ၊ မကြားပါစေနှင့်' ဟူ၍ ဖြစ်သည်။ ၎င်းစကား၏ ကောင်းဘက်ဆောင်သော အဓိပ္ပါယ်မှာ အသင်သည် (ကောင်းသတင်းကိုသာ) ကြားပါစေ၊ (မကောင်းသတင်းကိုကား) မကြားပါစေနှင့်ဟူ၍ ဖြစ်သည်။ ၎င်းစကား၏ မကောင်းဘက်သို့ ဆောင်သောအဓိပ္ပါယ်မှာ အသင်သည် (မကောင်းသတင်းကို ကြားပါစေ၊) (ကောင်းသတင်းကိုကား ) မကြားပါစေနှင့် ဟူ၍ ဖြစ်သည်။

၎င်းပြင် တတိယ စကားတရပ်မှာ 'ရာအိနာ' ဖြစ်သည်။ ဤစကား၏ ကောင်းသော အဓိပ္ပါယ်မှာ 'အသင်သည် ကျွန်ုပ်တို့အား ထောက်ထားညှာတာပါ' ဟူ၍ ဖြစ်သည်။ သို့ရာတွင် ဤစကား၌ပါရှိသော 'အိ' ဟူသော သရကို 'အီ' ဟူ၍ ဆွဲငင်ရွတ်ဖတ်ပါက အဓိပ္ပါယ်မှာ 'အို-ငါတို့၏ ဆိတ်ကျောင်းသမားဟူ၍ ဖြစ်သွားချေသည်။ ၎င်းပြင် 'ရာအိနာ' ဟူသော စကားသည် ဟိဗရူးဘာသာစကားတွင် ဆဲဆိုသော စကားလည်းဖြစ်သည်။

(၁) အကယ်၍ ယဟူဒီများသည် 'စမစ်အ်နာ ဝအဆွိုင်နာ' ၏အစား 'စမစ်အ်နာ ဝအတွာအ်နာ' ဟူ၍၎င်း၊➤➤

فَلَا يُؤْمِنُونَ إِلَّا قَلِيلًا ﴿٤٦﴾

သို့ရာတွင် အလ္လာဟ် အရှင်မြတ်သည် ထိုသူတို့အား ၎င်းတို့၏ သွေဖည် ငြင်းပယ်မှုကြောင့်ပင် (မိမိ) ကရုဏာတော်မှ ကင်းဝေးစေတော် မူခဲ့လေပြီ။ သို့ဖြစ်ပေရာ (ယင်းသူတို့အနက်မှ) အနည်းငယ်မျှသော သူတို့မှတပါး ကျန်ရှိသော သူတို့မှာမူကား သက်ဝင်ယုံကြည်ကြမည် မဟုတ်ချေ။

يَا أَيُّهَا الَّذِينَ أُوتُوا الْكِتَابَ آمِنُوا بِمَا نَزَّلْنَا مُصَدِّقًا لِمَا مَعَكُمْ مِنْ قَبْلِ أَنْ نَطْمِسَ وُجُوهًا فَنَرُدَّهَا عَلَى أَدْبَارِهَا أَوْ نَلْعَنَهُمْ كَمَا لَعَنَّا أَصْحَابَ السَّبْتِ وَكَانَ أَمْرُ اللَّهِ مَفْعُولًا ﴿٤٧﴾

၄၇။ အို-ကျမ်းဂန်ကို ချီးမြှင့်ပေးသနားတော်မူခြင်း ခံကြရကုန်သောသူ အပေါင်းတို့၊ ငါ အရှင်သည် (အသင်တို့၏) မျက်နှာများကိုဖျက်ဆီး၍ ကျောဘက်သို့ ပြန်လှည့်တော် မမူမီအလျင်၊ သို့တည်းမဟုတ် ငါ အရှင်မြတ်သည် 'စဗ်တ်' ခေါ် ဥပုသ်နေ့ကို ကျူးလွန် ဖောက်ဖျက်သော သူတို့အား (မိမိ) ကရုဏာတော်မှ ကင်းဝေးစေတော်မူဘိသကဲ့သို့ပင် ယင်း(အီမာန် သက်ဝင်ယုံကြည်မှု မရှိသော) သူတို့အားလည်း (မိမိ) ကရုဏာတော်မှ ကင်းဝေး စေတော် မမူမီအလျင်၊ အသင်တို့သည် ငါအရှင်မြတ်ချပေးသနားတော်မူသော အကြင်ကျမ်းဂန်(ကုရ်အာန်)ကို (ဆောလျင်စွာ) သက်ဝင်ယုံကြည် ကြလေကုန်။ ထိုကျမ်းဂန် (ကုရ်အာန်)ကို အသင်တို့ထံ၌ ရှိလေသော (မူရင်း) ကျမ်းဂန်များကို ထောက်ခံလျက် ရှိပေသည်။ အမှန် စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်သည် ပြီးမြောက်အောင်မြင်ပြီး ဖြစ်သည်သာတည်း။

>> 'အစ်စမအ်ယိုင်ရမွတ်စ် မအင်န်' ၏အစား 'အစ်စမအ်' ဟူ၍၎င်း၊'ရာအိနာ'၏ အစား 'အွဇုရ်နာ' ဟူ၍၎င်းသုံးစွဲပြောဆိုကြပါလျှင် ထိုသူတို့အဘို့ အကောင်းဆုံးလည်းဖြစ်သည်။ အမှန်အကန်ဆုံးလည်းဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် 'စမစ်အ်နာ ဝအတွာအ်နာ' ၏ အဓိပ္ပါယ်မှာ 'ကျွန်ုပ်တို့ကြားပါ၏။ လိုက်နာပါ၏' ဟူ၍ သာဖြစ်သည်။ 'အွန်ဇိုရ်နာ' အဓိပ္ပါယ်မှာ 'ကျွန်ုပ်တို့အား ကြည့်ရှု့ထောက်ထားပါ' ဟူ၍သာ ဖြစ်သည်။ အဓိပ္ပါယ် နှစ်မျိုးမရချေ။ ကဲ့ရဲ့ရှုံ့ချသည့် အနက်အဓိပ္ပါယ်နှင့်လည်း လုံးဝကင်းစင်ပေသည်။

إِنَّ اللَّهَ لَا يَغْفِرُ أَنْ يُشْرَكَ بِهِ وَيَغْفِرُ مَا دُونَ ذَٰلِكَ لِمَنْ يَشَاءُ ۚ وَمَنْ يُشْرِكْ بِاللَّهِ فَقَدِ افْتَرَىٰ إِثْمًا عَظِيمًا ﴿٤٨﴾

၄၈။ ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် *တစုံတရာကို မိမိနှင့် တွဲဘက်ယှဉ်ပြိုင် ကိုးကွယ်ခြင်းကို လွတ်ငြိမ်းချမ်းသာခွင့် အလျှင်း ပေးတော်မူမည် မဟုတ်ပေ။* [၁] သို့ရာတွင် ထို တွဲဘက်ယှဉ်ပြိုင် ကိုးကွယ်မှုမှတပါး အခြားပြစ်မှု ဒုစရိုက်တို့ကိုမူကား မိမိအလိုရှိတော် မူသောသူအား လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော် မူအံ့။ အမှန်စင်စစ်သော်ကား မည်သူမဆို တစ်စုံတစ်ရာကို အလ္လာဟ် အရှင်မြတ်နှင့် တွဲဘက်နှိုင်းယှဉ် ကိုးကွယ်ပါမူ၊ ထိုသူသည် ဧကန်မလွဲ အလွန် ကြီးလေးလှစွာသော ပြစ်မှုဒုစရိုက်ကို ကျူးလွန် ခဲ့လေသတည်း။

أَلَمْ تَرَ إِلَى الَّذِينَ يُزَكُّونَ أَنْفُسَهُمْ ۚ بَلِ اللَّهُ يُزَكِّي مَنْ يَشَاءُ وَلَا يُظْلَمُونَ فَتِيلًا ﴿٤٩﴾

၄၉။ (အို–နဗီတမန်တော်) အသင်သည် မိမိတို့ကိုယ်ကို မိမိတို့ သန့်ရှင်းစင်ကြယ်ကြောင်း ပြောဆို(ကြွားဝါ)သောသူတို့(၏ ဖြစ်အင်)ကို မတွေ့မမြင်ပါလေသလော။ ထိုသို့ အလျှင်းမဟုတ်၊ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည်သာလျှင် မိမိအလိုရှိတော် မူသောသူအား သန့်ရှင်း စင်ကြယ်စေတော်မူလေ၏။ သို့ရာတွင် ၎င်းတို့သည် (အပြစ်ပေးတော်မူခြင်းကို ခံကြရာ၌) ဆံခြည်တမျှင်ခန့်မျှပင် မတရားနှိပ်စက် ညှဉ်းပန်းခြင်းကို ခံကြရလိမ့်မည် မဟုတ်ပေ။ [၂]

---

(၁) အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲ၍ တစ်စုံတစ်ခုကို ခဝပ်ကိုးကွယ်ခြင်းသည် အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်အား ပုန်ကန် သောင်းကျန်းခြင်းပင် ဖြစ်သည်။ ထိုအရှင်မြတ်အား ပုန်ကန်သောင်းကျန်းမှုထက် ကြီးလေးဆိုးရွားသော အပြစ်သည် အဘယ်မှာလျှင် ရှိနိုင်အံ့နည်း။ အလ္လာဟ်အရှင်မြတ်သည် 'ရှရစ်က်' ပြုလုပ်သော သူများကိုကား ဘယ်သောအခါမျှ ချမ်းသာခွင့် ပေးတော်မူမည်မဟုတ်ချေ။ 'ရှရစ်က်' မှ အပ ကျန်အပြစ် ကြီးငယ်တို့ကိုမူ အလိုတော်ရှိပါလျှင် 'တောင်ဗဟ်' ဝန်ချတောင်းပန်မှု မရှိဘဲလျက်နှင့်ပင် ချမ်းသာခွင့် ပေးသနားတော်မူမည်ဖြစ်သည်။

(၂) အလ္လာဟ် အရှင်မြတ်၏ နှစ်သက်တော်မူခြင်းကို ခံရခြင်းနှင့် မြင့်မြတ်သောသူ ဖြစ်ခြင်း၏ အဓိက အကြောင်းတရားမှာ တောင်ဟီဒ်နှင့် တက္ကဝါ တရားပင်ဖြစ်သည်။ မည်သူပင်ဖြစ်စေကာမူ အဆိုပါ ➢➢

٥٠။ (အို-နဗီတမန်တော်) ထိုသူတို့သည် အလ္လာဟ် အရှင်မြတ်အပေါ်၌ မုသားကို မည်ကဲ့သို့ ကြံဖန် လည်ဆယ် ပြောဆိုဝံ့ကြသည်ကို အသင်ရှုပါလေ။ အမှန်စင်စစ် ယင်း(ကဲ့သို့) လည်ဆယ်ပြောဆိုခြင်း သည်ပင်လျှင် (၎င်းတို့၏) ထင်ရှားလှစွာသောပြစ်မှု ဒုစရိုက်အဖြစ် လုံလောက်ပေသတည်း။

انْظُرْ كَيْفَ يَفْتَرُوْنَ عَلَى اللّٰهِ الْكَذِبَ ؕ وَكَفٰى بِهٖۤ اِثْمًا مُّبِيْنًا ۟

၅၁။ (အို-နဗီ) အသင်သည် ကျမ်းဂန်အနက်မှ တစိတ်တဒေသကို ရရှိခဲ့သူတို့(၏ ဖြစ်အင်)ကို မတွေ့ မမြင်ပါလေသလော၊ ထိုသူတို့သည် ရုပ်ပွားဆင်းတု များကိုင်း၊ ရှိင်တွာန်ကိုင်း ယုံကြည်ကြ၏။ ၎င်းပြင် ထိုသူတို့က ကာဖိရ်များနှင့် စပ်လျဉ်း၍ 'ဤသူများ သည် မုအ်မင်န်များထက် ပိုမို၍ တရားလမ်းမှန် ရသော သူများဖြစ်ကြသည်' ဟူ၍ ပြောဆိုကြ၏။

اَلَمْ تَرَ اِلَى الَّذِيْنَ اُوْتُوْا نَصِيْبًا مِّنَ الْكِتٰبِ يُؤْمِنُوْنَ بِالْجِبْتِ وَالطَّاغُوْتِ وَيَقُوْلُوْنَ لِلَّذِيْنَ كَفَرُوْا هٰۤؤُلَاۤءِ اَهْدٰى مِنَ الَّذِيْنَ اٰمَنُوْا سَبِيْلًا ۟

၅၂။ ဤသူများပင် အကြင် သူများတည်း။ အလ္လာဟ် အရှင်မြတ်သည် ထိုသူတို့အား (မိမိ) ကရုဏာတော်မှ ကင်းဝေးစေတော် မူခဲ့လေသည်။ အမှန်သော်ကား မည်သူ့ကိုမဆို အလ္လာဟ်အရှင်မြတ် သည် (မိမိ)ကရုဏာတော်မှ ကင်းဝေးစေတော်မူခဲ့ပါ လျှင် အသင်သည်ထိုသူအားကူညီစောင်မမည့်သူတဦး တယောက်ကိုမျှအလျင်း တွေ့ရှိလိမ့်မည်မဟုတ်ပေ။

اُولٰٓئِكَ الَّذِيْنَ لَعَنَهُمُ اللّٰهُ ؕ وَمَنْ يَّلْعَنِ اللّٰهُ فَلَنْ تَجِدَ لَهٗ نَصِيْرًا ۟

၅၃။ သို့တည်းမဟုတ်၊ ၎င်း(ယဟူဒီ)တို့၌ တစိတ် တဒေသမျှ သြဇာအာဏာသည် ရှိလေသလော။ သို့ ရှိခဲ့ပါလျှင် (မိမိတို့ရရှိထားသော သြဇာအာဏာများ အနက်မှ) နှမ်းစေ့ခနဲ့မျှပင်၊ သူတပါးတို့အားပေးကြ လိမ့်မည် မဟုတ်ပေ။

اَمْ لَهُمْ نَصِيْبٌ مِّنَ الْمُلْكِ فَاِذًا لَّا يُؤْتُوْنَ النَّاسَ نَقِيْرًا ۟

---

➤➤ တရားများကိုလက်ခံနာယူကျင့်မှုပါက ထိုသူသည် သူမှန်သူမြတ်ပင် ဖြစ်ချေသည်။ အလ္လာဟ်အရှင်မြတ် သည်လည်း ထိုသူအား နှစ်သက်တော်မူပေသည်။

أَمْ يَحْسُدُونَ النَّاسَ عَلَىٰ مَا آتَاهُمُ اللَّهُ مِن فَضْلِهِ ۖ فَقَدْ آتَيْنَا آلَ إِبْرَاهِيمَ الْكِتَابَ وَالْحِكْمَةَ وَآتَيْنَاهُم مُّلْكًا عَظِيمًا ﴿٥٤﴾

၅၄။ သို့တည်းမဟုတ်၊ ၎င်း (ယဟူဒီ)တို့သည် အလ္လာဟ် အရှင်မြတ်က မိမိကျေးဇူးတော်အနက်မှ အခြားသူတို့အား ချီးမြှင့် ပေးသနားတော်မူသော အရာများနှင့် စပ်လျဉ်း၍ မနာလိုကြလေသလော။

သို့ဖြစ်လျှင်၊ ငါ အရှင်မြတ်သည် (နဗီတမန်တော်) အီဗ်ရာဟီမ်၏ အဆက်အနွယ်အား ကျမ်းဂန်ကို လည်းကောင်း၊ ဉာဏ်ပညာကို လည်းကောင်း၊ ချီးမြှင့် ပေးသနားတော်မူခဲ့သည့် အပြင်၊ ငါ အရှင်မြတ်သည် ၎င်းတို့အား ကြီးကျယ်လှစွာသော (အုပ်ချုပ်မှု) ဩဇာအာဏာကိုလည်း ချီးမြှင့် ပေးသနားတော်မူခဲ့လေသတည်း။

فَمِنْهُم مَّنْ آمَنَ بِهِ وَمِنْهُم مَّن صَدَّ عَنْهُ ۚ وَكَفَىٰ بِجَهَنَّمَ سَعِيرًا ﴿٥٥﴾

၅၅။ သို့တစေလည်း ယင်း (နဗီတမန်တော်၏ အဆက်အနွယ်)တို့ အနက် အချို့သူတို့သည် ထို (ကျမ်းဂန်နှင့်ဉာဏ်ပညာစသည်တို့)ကို ယုံကြည်ခဲ့ကြလေ၏။ သို့ရာတွင် ၎င်းတို့အနက် အချို့သူတို့မှာမူကား ထို(ကျမ်းဂန်နှင့် ဉာဏ်ပညာစသည်တို့ကို ယုံကြည်ခြင်း)မှ သွေဖည်ရှောင်ခဲ့ကြလေ၏။

အမှန်သော်ကား (ယင်းကဲ့သို့ သူတို့အဘို့) အလျှံပြောင်ပြောင် တောက်လောင်သော ဂျဟန္နမ် ငရဲဘုံသည်ပင် ပြစ်ဒဏ်အဖြစ် လုံလောက်ပေသည်။

إِنَّ الَّذِينَ كَفَرُوا بِآيَاتِنَا سَوْفَ نُصْلِيهِمْ نَارًا كُلَّمَا نَضِجَتْ جُلُودُهُم بَدَّلْنَاهُمْ

၅၆။ စင်စစ်ဧကန် အကြင်သူတို့သည် ငါအရှင်မြတ်၏ သက်သေလက္ခဏာတော်များကို မယုံမကြည် သွေဖည်ငြင်းပယ် ခဲ့ကြကုန်၏။ ငါအရှင်မြတ်သည် ထိုသူတို့အား မကြာမြင့်မီ (ငရဲ)မီးထဲသို့ ထည့်သွင်းတော်မူအံ့။

جُلُوۡدًا غَيۡرَهَا لِيَذُوۡقُوا الۡعَذَابَ ؕ اِنَّ اللّٰهَ كَانَ عَزِيۡزًا حَكِيۡمًا ﴿٥٦﴾

ထိုသူတို့၏ အရေများသည် ကျက်ကြေကျွမ်းလောင်၍သွားတိုင်း၊ ထိုသူတို့သည် ပြစ်ဒဏ်(၏ အရသာ)ကို (အမြဲမပြတ်) မြည်းစမ်းကြရန် ငါအရှင်မြတ်သည် ၎င်းတို့အား (ကျွမ်းလောင်ခဲ့သော) ထိုအရေများ၏အစား အခြား(အသစ်ဖြစ်သော) အရေများကို လဲလှယ်၍ပေးတော်မူအံ့။

ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် (အရာခပ်သိမ်းတို့ကို) နိုင်နင်း လွှမ်းမိုးတော်မူသော အရှင်၊ ကျိုးကြောင်း ဆင်ခြင်တုံဉာဏ်နှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

وَالَّذِيۡنَ اٰمَنُوۡا وَعَمِلُوا الصّٰلِحٰتِ سَنُدۡخِلُهُمۡ جَنّٰتٍ تَجۡرِىۡ مِنۡ تَحۡتِهَا الۡاَنۡهٰرُ خٰلِدِيۡنَ فِيۡهَاۤ اَبَدًا ؕ لَهُمۡ فِيۡهَاۤ اَزۡوَاجٌ مُّطَهَّرَةٌ ۚ وَّنُدۡخِلُهُمۡ ظِلًّا ظَلِيۡلًا ﴿٥٧﴾

၅၇။ သို့ရာတွင်မူ အကြင်သူတို့သည် 'အီမာန်' ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိကြ၏။ ၎င်းပြင် ကောင်းမြတ်သော အကျင့်သီလ များကိုလည်း ဆောက်တည် စောင့်ထိန်းကြ၏။ ထိုသူတို့အား ငါ အရှင်မြတ်သည် မကြာမြင့်မီ အကြင်ဥယျာဉ်များသို့ ဝင်ရောက်စေတော်မူအံ့၊ ထိုဥယျာဉ်များ၏ အောက်၌ စမ်းရေချောင်းများ စီးဆင်းလျက်ရှိမည်။ ၎င်းတို့သည် ထိုဥယျာဉ်များ၌ အမြဲထာဝစဉ် နေထိုင်စံမြန်းကြရမည်။

၎င်းဥယျာဉ်များတွင် ထိုသူတို့အဖို့ သန့်ရှင်းစင်ကြယ်သော ဇနီးမိန်းမများလည်း ရှိကြမည်။ ၎င်းပြင် ငါ အရှင်မြတ်သည် ထိုသူတို့အား အလွန် ထူထပ်ချမ်းမြေ့ သာယာသော အရိပ်အာဝါသ အောက်သို့ ဝင်ရောက်စေတော်မူအံ့။

إِنَّ ٱللَّهَ يَأْمُرُكُمْ أَن تُؤَدُّوا۟ ٱلْأَمَٰنَٰتِ إِلَىٰٓ أَهْلِهَا وَإِذَا حَكَمْتُم بَيْنَ ٱلنَّاسِ أَن تَحْكُمُوا۟ بِٱلْعَدْلِ ۚ إِنَّ ٱللَّهَ نِعِمَّا يَعِظُكُم بِهِۦٓ ۗ إِنَّ ٱللَّهَ كَانَ سَمِيعًۢا بَصِيرًا ﴿٥٨﴾

၅၈။ (အို-မွတ်စ်လင်မ်အပေါင်းတို့) အလ္လာဟ်အရှင်မြတ်သည် ဧကန်စင်စစ် အသင်တို့အား (မိမိတို့ထံ သူတပါးက) *အပ်နှံထားသောပစ္စည်းများကို* [၁] ထိုပစ္စည်းရှင်များသို့ (ပြန်လည်) ပေးဆပ်ကြရန်၎င်း၊ လူတို့စပ်ကြား၌ စီရင်ဆုံးဖြတ်ကြရာတွင် *တရားမျှတစွာဖြင့် စီရင်ဆုံးဖြတ်ကြရန်၎င်း၊* [၂] အမိန့်တော်ပေးတော်မူလေသည်။

ဧကန်စင်စစ် အသင်တို့အား အလ္လာဟ်အရှင်မြတ် ဆုံးမတော်မူသော ဩဝါဒတော်သည် အလွန် မွန်မြတ်လှပေသည်။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမရှိ ကြားသိတော် မူသောအရှင်၊ ခပ်သိမ်းဉဿုံ အလုံးစုံတို့ကို ခွဲခြားသိမြင်တော်မူသော အရှင်မြတ် ဖြစ်တော် မူပေသည်။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوٓا۟ أَطِيعُوا۟ ٱللَّهَ وَأَطِيعُوا۟ ٱلرَّسُولَ وَأُو۟لِى ٱلْأَمْرِ

၅၉။ အို-သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် *အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို လိုက်နာကြလေကုန်၊* [၃] ထို့နည်းတူစွာ အသင်တို့သည် *ရစူလ်တမန်တော်၏အမိန့်တော်များကိုလည်းကောင်း၊* [၄] မိမိတို့ အနက်မှ *အာဏာပိုင်များ၏ အမိန့်ကိုလည်းကောင်း၊* [၅] လိုက်နာကြလေကုန်။

---

(၁) အမာနတ်ဟူသည် သူတပါးက မိမိအားယုံကြည်စိတ်ချ၍ အပ်နှံထားသောအရာကို ဆိုလိုသည်။ အမာနတ်တွင် ဥစ္စာပစ္စည်းများအပြင် လျှို့ဝှက်ချက်များ သိမ်းဆည်းရသော အသိပညာနှင့် တာဝန်ရပ်ရပ်လည်း အကျုံးဝင်ပေသည်။ ဤမုဗ္ဗပါဌ်တော်တွင် အမာနတ်အရပ်ရပ်ကို သက်ဆိုင်ရာ ပုဂ္ဂိုလ်များထံသို့ သစ္စာရှိစွာဖြင့် ပြန်လည်ပေးပို့ ကြရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

ဤမုဗ္ဗပါဌ်တော်တွင် လူသားတို့အပေါ်၌ သက်ရောက်သော အလ္လာဟ်အရှင်မြတ်နှင့် စပ်လျဉ်းသည့် တာဝန်များ၊ လူသားအချင်းချင်းနှင့် စပ်လျဉ်းသည့် တာဝန်များအားလုံးသည် အကျုံးဝင်ပေသည်။

(၂) တရားသဖြင့် စီရင်ဆုံးဖြတ်ရမည်ဟူသော အမိန့်တော်သည် လူသားတို့ကြားတွင် တရားစီရင် ဆုံးဖြတ်သော သူများနှင့် စပ်လျဉ်း၍ ထုတ်ပြန်ပို့ချတော်မူသော မုဗ္ဗပါဌ်တော်ဖြစ်သည်။ ရှု-အီဗ်နုကဆီရ်။ ➢➢

مِنْكُمْ فَإِنْ تَنَازَعْتُمْ فِي شَيْءٍ فَرُدُّوهُ إِلَى اللَّهِ وَالرَّسُولِ إِنْ كُنْتُمْ تُؤْمِنُونَ بِاللَّهِ وَالْيَوْمِ الْآخِرِ ذَٰلِكَ خَيْرٌ وَأَحْسَنُ تَأْوِيلًا ﴿٥٩﴾

တဖန် အကယ်၍ အသင်တို့သည် တစုံတရာ ကိစ္စနှင့်စပ်လျဉ်း၍ အငြင်းပွားခဲ့ကြသော်၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကို လည်းကောင်း၊ နောက်ဆုံးနေ့ကို လည်းကောင်း၊ သက်ဝင်ယုံကြည်ကြပါလျှင် ထိုကိစ္စကို အလ္လာဟ် အရှင်မြတ် အထံတော်သို့ လည်းကောင်း၊ ရစူလ်တမန်တော်၏ထံသို့ လည်းကောင်း၊ *ပြန်လည်၍ ပို့သကြလေကုန်။* [၁] ဤ(သို့ ပြုလုပ်ခြင်း)သည်ကား (အသင်တို့အတွက် ဤမျက်မှောက် လောကီဘဝ၌) အမွန်မြတ်ဆုံး ဖြစ်သည့်အပြင်၊ (နောက်တမလွန် ဘဝ၌လည်း) အကျိုး အာနိသင်အားဖြင့် အကောင်းဆုံးပင် ဖြစ်ချေသတည်း။

---

➢➢ တရားသဖြင့် စီရင်ဆုံးဖြတ်ရမည့်အကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် အမြောက်အမြား တွေ့ရှိရပေသည်။ ကုရ်အာန်(၄း၁၃၅။ ၅း၈။ ၅း၄၂။ ၆း၁၃၅။ ၇း၂၉။ ၁၆း၇၆။ ၄၂း၁၅။ ၄၉း၉။၅၇း၂၅။)

၃ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည်သာလျှင် သက်ရှိသက်မဲ့အားလုံးတို့၏ ခယရိုကျိုးရှိခိုးခြင်းကို ခံယူတော်မူထိုက်သောအရှင်ဖြစ်သည်။

၄ "ရစူလ်"တမန်တော်များသည် အလ္လာဟ်အရှင်မြတ်၏ စေလွှတ်တော်မူခြင်းခံရသော ပုဂ္ဂိုလ်မြတ်များဖြစ်ကြ၏။ ထိုတမန်တော်များသည်ပင်လျှင် ထိုအရှင်မြတ်၏ ဓမ္မဒေသနာတော်များကို လူသားတို့အား ရှင်းလင်း၍ ဟောကြားဆိုဆုံးမကြ၏။ သို့ဖြစ်ပေရာ ထိုတမန်တော်မြတ်များ၏ အမိန့်ဩဝါဒများကိုလည်း နာခံကြရပေမည်။

၅ 'အုလစ်လ်အမ်ရ်' အာဏာပိုင်များဟူသည် မည်သူများနည်း၊ ဤတွင် အဆိုပြားလျက်ရှိ၏။ အချို့က တိုင်းပြည်ကို စီမံအုပ်ချုပ်သော အစိုးရများကို ဆိုလိုသည်ဟူ၍ ၎င်း၊ အချို့က 'အာလင်မ်' ပညာရှိသုခမိန်များကို ဆိုလိုသည်ဟူ၍၎င်း၊ အချို့က တရားသူကြီးများကို ဆိုလိုသည်ဟူ၍၎င်း၊ အချို့က စစ်သူကြီးများကို ဆိုလိုသည်ဟူ၍၎င်း၊ အမျိုးမျိုးယူဆကြသည်။ ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော်အရ အထက်ပါ ပုဂ္ဂိုလ် အားလုံးကိုလည်း ဆိုနိုင်ပေသည်။ ရှု-ဂျဆ်ဆွာဆ်။

၁ မိမိတို့အချင်းချင်းအငြင်းပွားသောပြဿနာကို အလ္လာဟ်အရှင်မြတ်အထံတော်သို့ လွှဲအပ်ခြင်းဟူသည် အလ္လာဟ်အရှင်မြတ်၏ ကျမ်းမြတ်နှင့်အညီ လိုက်နာကျင့်သုံးခြင်းကိုဆိုလိုသည်။ တမန်တော်မြတ်ထံသို့ လွှဲအပ်ခြင်းဟူသည် တမန်တော်မြတ်သက်တော်ထင်ရှားရှိစဉ် တမန်တော်မြတ်ထံသို့ ချဉ်းကပ်၍ တမန်တော်မြတ်၏ အမိန့်ဩဝါဒနှင့်အညီ လိုက်နာကျင့်သုံးခြင်းကို၎င်း၊ တမန်တော်မြတ် ကွယ်လွန်အနိစ္စရောက်ပြီးနောက်တွင်မူ တမန်တော်မြတ်၏ 'ဟဒီဆ်' ဩဝါဒတော်များနှင့်အညီ လိုက်နာကျင့်သုံးခြင်းကို၎င်း ဆိုလိုသည်။

ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် အစ္စလာမ် သာသနာတွင် ကုရ်အာန် ကျမ်းမြတ်နှင့် တမန်တော်မြတ်၏ ဟဒီဆ်ဩဝါဒများသည် အဓိကဖြစ်ကြောင်း အထင်အရှား သိရပေသည်။

اَلَمْ تَرَ اِلَى الَّذِيْنَ يَزْعُمُوْنَ اَنَّهُمْ اٰمَنُوْا بِمَاۤ اُنْزِلَ اِلَيْكَ وَمَاۤ اُنْزِلَ مِنْ قَبْلِكَ يُرِيْدُوْنَ اَنْ يَّتَحَاكَمُوْۤا اِلَى الطَّاغُوْتِ وَقَدْ اُمِرُوْۤا اَنْ يَّكْفُرُوْا بِهٖ ؕ وَيُرِيْدُ الشَّيْطٰنُ اَنْ يُّضِلَّهُمْ ضَلٰلًاۢ بَعِيْدًا ﴿٦٠﴾

၆၀။ (အို-နဗီတမန်တော်) အသင်သည် အကြင်သူတို့(၏ဖြစ်အင်)ကို မတွေ့မမြင်ပါလေသလော။ ထိုသူတို့က မိမိတို့သည် အသင့်ထံ ထုတ်ပြန်ပြီးဖြစ်သော (ကုရ်အာန်) ကျမ်းတော်ကို လည်းကောင်း၊ အသင်၏အလျင် ထုတ်ပြန်ခဲ့ပြီးဖြစ်သော ကျမ်းတော်များကိုလည်းကောင်း၊ မုချဧကန် သက်ဝင်ယုံကြည်ခဲ့ကြလေပြီဟု (ဟန်ဆောင်) ထုတ်ဖော် ပြောဆိုကြလေသည်။

(သို့တစေလည်း) ယင်းသူတို့သည် (မိမိတို့၏)အမှုအခင်းများကို "ရှိုင်တွာန်" မိစ္ဆာကောင်၏ထံသို့ (သွားရောက်)တင်လိုကြကုန်၏။ အမှန်စင်စစ်သော်ကား၊ ယင်းသူတို့သည် ထို "ရှိုင်တွာန်" မိစ္ဆာကောင်ကို မယုံမကြည် သွေဖည်ငြင်းပယ်ကြ ရန် အမိန့်တော်ရရှိပြီး ဖြစ်ကြကုန်၏။

အမှန်သော်ကား "ရှိုင်တွာန်" မိစ္ဆာကောင်သည် ၎င်းတို့အား ဝေးလံစွာသော လမ်းမှားသို့ ပို့ဆောင်လိုပေသတည်း။

وَاِذَا قِيْلَ لَهُمْ تَعَالَوْا اِلٰى مَاۤ اَنْزَلَ اللّٰهُ وَاِلَى الرَّسُوْلِ رَاَيْتَ الْمُنٰفِقِيْنَ يَصُدُّوْنَ عَنْكَ صُدُوْدًا ﴿٦١﴾ ۚ

၆၁။ ၎င်းပြင် (တဦးတယောက်သော သူသည်) ထိုသူတို့အား အသင်တို့သည် (တရားစီရင်ဆုံးဖြတ်ရန်အလို့ငှာ) အလ္လာဟ် အရှင်မြတ် ထုတ်ပြန်ချမှတ်တော် မူသော တရားဓမ္မ(တည်း ဟူသော ကုရ်အာန် ကျမ်းတော်မြတ်) ဘက်သို့လည်းကောင်း၊ ရစူလ် တမန်တော်မြတ် ထံသို့လည်းကောင်း လာကြလေကုန်ဟု ပြောဆိုသောအခါ၊ အသင်သည် "မုနာဖစ်က်" အယောင်ဆောင် မွတ်စ်လင်မ်တို့အား မိမိထံ (လာရောက်ခြင်း) မှ ဖဲကြဉ်သွေရှောင်ကြသည်ကို တွေ့မြင်ရပေအံ့။

فَكَيْفَ إِذَآ أَصَابَتْهُم مُّصِيبَةٌۢ بِمَا قَدَّمَتْ أَيْدِيهِمْ ثُمَّ جَآءُوكَ يَحْلِفُونَ بِٱللَّهِ إِنْ أَرَدْنَآ إِلَّآ إِحْسَٰنًا وَتَوْفِيقًا ﴿٦٢﴾

၆၂။ တဖန် ထိုသူတို့၌ မိမိတို့၏ကိုယ်ထိလက် ရောက်ပြုလုပ်မှုများကြောင့်ပင် တစုံတရာ ဘေးဥပဒ် အန္တရာယ်သည် ဆိုက်ရောက်လတ်သော် (ထိုသူတို့ သည်) မည်သို့ဖြစ်သွားကြသနည်း။ ထို(သို့ဖြစ်ကြ ပြီး)နောက် ထိုသူတို့ကား 'ကျွန်တော်များသည် အကောင်း ဖြစ်စေခြင်းနှင့်' (အချင်းချင်း) စိတ်တူ ကိုယ်မျှ ဖြစ်စေခြင်းမှတပါး အခြားမည်သည်ကိုမျှ ရည်စူးခဲ့ကြသည် မဟုတ်ပါ' ဟူ၍ အလ္လာဟ်အရှင် မြတ်အား တိုင်တည်ကျိန်ဆိုလျက် အသင့်ထံလာကြ ကုန်သတည်း။

أُو۟لَٰٓئِكَ ٱلَّذِينَ يَعْلَمُ ٱللَّهُ مَا فِى قُلُوبِهِمْ فَأَعْرِضْ عَنْهُمْ وَعِظْهُمْ وَقُل لَّهُمْ فِىٓ أَنفُسِهِمْ قَوْلًۢا بَلِيغًا ﴿٦٣﴾

၆၃။ ဤသူတို့ကား၊ အကြင် သူများပင်တည်း။ အလ္လာဟ် အရှင်မြတ်သည် ထိုသူတို့၏ စိတ်တွင်း၌ ရှိသမျှတို့ကို သိရှိတော်မူလေသည်။ သို့ဖြစ်ပေရာ အသင်သည် ထိုသူတို့(၏ အပြစ်များ)ကို လျစ်လျူ ရှု၍ နေပါလေ။ သို့ရာတွင် အသင်သည် ၎င်းတို့အား ဆုံးမပဲ့ပြင်၍ ပေးပါလေ။ ထိုမှတပါး အသင်သည် ၎င်းတို့အား ၎င်းတို့နှင့်ပတ်သက်၍ ထိရောက်စွဲမြဲ သော (တရား)စကားကိုလည်း ပြောကြားပါလေ။

وَمَآ أَرْسَلْنَا مِن رَّسُولٍ إِلَّا لِيُطَاعَ بِإِذْنِ ٱللَّهِ ۚ وَلَوْ أَنَّهُمْ إِذ ظَّلَمُوٓا۟ أَنفُسَهُمْ جَآءُوكَ فَٱسْتَغْفَرُوا۟ ٱللَّهَ وَٱسْتَغْفَرَ لَهُمُ ٱلرَّسُولُ لَوَجَدُوا۟ ٱللَّهَ

၆၄။ အမှန်စင်စစ် ငါ အရှင်မြတ်သည် ရစူလ် တမန်တော်အပါင်းတို့အား စေလွှတ်တော်မူခဲ့ခြင်းမှာ အလ္လာဟ် အရှင်မြတ်၏အမိန့်တော်ဖြင့် (လူခပ်သိမ်း တို့သည်) ထိုရစူလ် တမန်တော်များ၏ သြဝါဒများကို နာခံကြရန်အတွက်သာလျှင် ဖြစ်ပေသည်။

တဖန်အကယ်၍သာ ထိုသူတို့သည် မိမိတို့ ကိုယ်ကို နှိပ်စက်ကလူ ပြုမိခဲ့ကြလျှင် အသင့်ထံ လာကြ၍ အလ္လာဟ်အရှင်မြတ် ထံတော်၌ ချမ်းသာ ခွင့်ကို အသနားခံပေးသည်ရှိသော် ၎င်းပြင် ရစူလ်

تَوَّابًا رَّحِيمًا ٦٤

တမန်တော်ကလည်း ၎င်းတို့အတွက် ချမ်းသာခွင့်ကို အသနားခံပေးသည် ရှိသော် ထိုသူတို့သည် အလ္လာဟ် အရှင်မြတ်အား အကြိမ်ကြိမ် ကရုဏာတော်နှင့် ပြန်လှည့်တော် မူသော အရှင်အဖြစ်၎င်း၊ အလွန် သနားကြင်နာ ညှာတာတော်မူသော အရှင်အဖြစ်၎င်း တွေ့ရှိကြရမည်မှာ မလွဲဧကန်တည်း။

فَلَا وَرَبِّكَ لَا يُؤْمِنُونَ حَتَّىٰ يُحَكِّمُوكَ فِيمَا شَجَرَ بَيْنَهُمْ ثُمَّ لَا يَجِدُوا فِي أَنفُسِهِمْ حَرَجًا مِّمَّا قَضَيْتَ وَيُسَلِّمُوا تَسْلِيمًا ٦٥

၆၅။ သို့ဖြစ်ပေရာ၊ အသင့်အား ဖန်ဆင်းမွေးမြူ တော်မူသော အရှင်မြတ်၏ 'ကစမ်'၊ ထိုသူတို့သည် မိမိတို့အချင်းချင်း အငြင်းပွားသော ပြဿနာနှင့် စပ်လျဉ်း၍ အသင်အား ခုံသမာဓိတင်မြှောက်ခြင်း မရှိသမျှ ကာလပတ်လုံး၊ ပြီးနောက် ၎င်းတို့သည် အသင် စီရင်ခဲ့သော ဆုံးဖြတ်ချက်နှင့် စပ်လျဉ်း၍ မိမိတို့ စိတ်တွင်းဝယ်၊ မည်သည့် ကျဉ်းကျပ်မှုကိုမျှ မတွေ့ရှိကြသည့်ပြင် (ယင်းစီရင်ဆုံးဖြတ်ချက်ကို) အပြည့်အစုံ (ကြည်ဖြူစွာ)လက်ခံနာယူခြင်း မရှိသမျှ ကာလပတ်လုံး ထိုသူတို့သည် 'မုအ်မင်န်' သက်ဝင် ယုံကြည်သူများ ဖြစ်နိုင်ကြမည်မဟုတ်ပေ။

وَلَوْ أَنَّا كَتَبْنَا عَلَيْهِمْ أَنِ اقْتُلُوا أَنفُسَكُمْ أَوِ اخْرُجُوا مِن دِيَارِكُم مَّا فَعَلُوهُ إِلَّا قَلِيلٌ مِّنْهُمْ ۖ وَلَوْ أَنَّهُمْ فَعَلُوا مَا يُوعَظُونَ بِهِ لَكَانَ خَيْرًا لَّهُمْ وَأَشَدَّ تَثْبِيتًا ٦٦

၆၆။ ၎င်းပြင်၊ အကယ်၍သာ ငါ အရှင်မြတ်သည် ထိုသူတို့အပေါ်ဝယ်၊ 'အသင်တို့သည်' မိမိတို့ကိုယ်ကို မိမိတို့ပင် သတ်ဖြတ်ကြလေကုန် ဟူ၍သော်လည်း ကောင်း၊ အသင်တို့သည် မိမိတို့(နေရင်း)ဒေသများမှ ထွက်ခွာ သွားကြလေကုန် ဟူ၍သော် လည်းကောင်း (အမိန့်တော်) သတ်မှတ်ပြဋ္ဌာန်းတော် မူခဲ့ပါလျှင် ထိုသူတို့အနက်မှ အနည်းငယ်မျှသော သူတို့မှတပါး အခြားသူတို့မှာမူကား၊ ထိုပြဋ္ဌာန်းချက်ကို လိုက်နာ ကျင့်သုံးကြမည် မဟုတ်ပေ။

သို့ရာတွင် အကယ်၍သာ ၎င်းတို့သည်၊ ၎င်းတို့ဆုံးမခြင်းခံကြရသော အမှုကိစ္စများကို လိုက်နာဆောင်ရွက်ကြပါမူ (ယင်းသို့ လိုက်နာဆောင်ရွက်ခြင်းသည်ကား) ၎င်းတို့အတွက် အကောင်းဆုံး ဖြစ်ခဲ့သည့်အပြင်၊ (၎င်းတို့၏ 'အီမာန်' ယုံကြည်မှုကို) ပိုမို၍ပင် ခိုင်မြဲစေမည်လည်း ဖြစ်အံ့သတည်း။

وَّاِذًا لَّاٰتَيْنٰهُمْ مِّنْ لَّدُنَّآ اَجْرًا عَظِيْمًا ﴿٦٧﴾

၆၇။ ၎င်းပြင်၊ ထိုအချိန်အခါမျိုးတွင်၊ ဧကန်စင်စစ် ငါအရှင်မြတ်သည် ထိုသူတို့အား မိမိအထံတော်မှ ကြီးကျယ်မြင့်မြတ်လှစွာသော အကျိုးကျေးဇူးတော်ကို ချီးမြှင့်ပေးသနားတော်မူခဲ့အံ့။

وَّلَهَدَيْنٰهُمْ صِرَاطًا مُّسْتَقِيْمًا ﴿٦٨﴾

၆၈။ ထိုမှတပါး၊ ဧကန်မလွဲ ငါအရှင်မြတ်သည် ထိုသူတို့အား ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်ကိုလည်း ညွှန်ကြား ပြသတော်မူခဲ့အံ့။

وَمَنْ يُّطِعِ اللّٰهَ وَالرَّسُوْلَ فَاُولٰٓئِكَ مَعَ الَّذِيْنَ اَنْعَمَ اللّٰهُ عَلَيْهِمْ مِّنَ النَّبِيّٖنَ وَالصِّدِّيْقِيْنَ وَالشُّهَدَآءِ وَالصّٰلِحِيْنَ ۚ وَحَسُنَ اُولٰٓئِكَ رَفِيْقًا ﴿٦٩﴾

၆၉။ အမှန် စင်စစ်သော်ကား၊ အကြင်သူသည် အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်များကို လည်းကောင်း၊ ရစူလ်တမန်တော်၏ (အမိန့်တော်များ)ကိုလည်းကောင်း၊ လိုက်နာအံ့၊ ယင်း(ကဲ့သို့သော) သူတို့သည် အလ္လာဟ်အရှင်မြတ် ကျေးဇူးပြုတော်မူသော နဗီတမန်တော်များ၊ 'ဆွစ်ဒ္ဒီက်' တိကျ မှန်ကန်စွာ ပြောဆိုပြုလုပ် ဆောင်ရွက်သူများ၊ 'ရှဟီဒ်' အလ္လာဟ် အရှင်မြတ်၏ လမ်းတော်၌ အသက်ဇီဝိန်ကို စွန့်သူများ၊ 'ဆွာလိဟ်' သူတော်စင် သူတော်ကောင်းများနှင့် အတူတကွ ရှိကြလတ္တံ့။ စင်စစ်ဆိုသော် ယင်းသူတို့သည် *အဘယ်မျှလောက် မွန်မြတ်လှစွာသော မိတ်သဟာရအဖော် အဖက်များ ဖြစ်ကြပေသနည်း။* ၁

(၁) အကြင်လောကီသားတဦး၌ လောကီစည်းစိမ်ချမ်းသာ အဘယ်မျှပင်များပြားလင့်ကစား အကယ်၍ မိတ်ဆွေကောင်းမရှိပါမူ ထိုသူသည်ထိုမျှများပြားသော စည်းစိမ်ချမ်းသာများကို ပြည့်စုံစွာခံစားနိုင်မည်မဟုတ်ပေ၊ ➢➢

ذٰلِكَ الْفَضْلُ مِنَ اللّٰهِ ۚ وَكَفٰى بِاللّٰهِ عَلِيْمًا ۝٧٠

၇၀။ ဤသည်ကား၊ အလ္လာဟ် အရှင်မြတ် အထံတော်မှ ကျေးဇူးတော် ပင်တည်း။ စင်စစ်မူကား၊ အလ္လာဟ် အရှင်မြတ်သည်ပင်လျှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိရှိတော်မူသော အရှင်မြတ်အဖြစ် လုံလောက်တော်မူပေသတည်း။

يٰٓاَيُّهَا الَّذِيْنَ اٰمَنُوْا خُذُوْا حِذْرَكُمْ فَانْفِرُوْا ثُبَاتٍ اَوِ انْفِرُوْا جَمِيْعًا ۝٧١

၇၁။ အို- "မုအ်မင်န်" သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် မိမိတို့၏(ကြိုတင်) ကာကွယ်မှုကို ပြင်ဆင်ပြုလုပ်ကြလေကုန်။ (တနည်း- အသင်တို့သည် မိမိတို့၏ လက်နက်များကို စွဲကိုင်ထားကြလေကုန်၊) ထို့နောက် အသင်တို့သည် (ရန်သူတို့နှင့် ပြိုင်ဆိုင်တိုက်ခိုက်ကြရန်) အစုလိုက် ချီတက်ကြလေကုန်၊ သို့တည်းမဟုတ် အသင်တို့သည် တစည်းတလုံးတည်း ချီတက်ကြလေကုန်။

وَاِنَّ مِنْكُمْ لَمَنْ لَّيُبَطِّئَنَّ ۚ فَاِنْ اَصَابَتْكُمْ مُّصِيْبَةٌ قَالَ قَدْ اَنْعَمَ اللّٰهُ عَلَيَّ اِذْ لَمْ اَكُنْ مَّعَهُمْ شَهِيْدًا ۝٧٢

၇၂။ ၎င်းပြင် မုချဧကန် အသင်တို့တွင် အကြင်ကဲ့သို့သော သူလည်းရှိ၏။ ထိုသူသည် (စစ်မြေပြင်သို့ လိုက်ပါသွားခြင်း မပြုဘဲ) ဖင့်နွဲ့ ဆိုင်းတွ (ကျန်ရစ်)လေသည်။

တဖန် အကယ်၍ အသင်တို့၌ ဘေးအန္တရာယ် တစ်စုံတစ်ရာဆိုက်ရောက်ခဲ့မူ၊ ထိုသူက 'ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်၏အပေါ်၌ ကျေးဇူးပြုတော်မူခဲ့လေပြီ၊ ထို့အတွက်ကြောင့်ပင်၊ ကျွန်ုပ်သည် ထိုသူတို့နှင့်အတူ (စစ်မြေပြင်သို့) လိုက်ပါသွားခြင်း မရှိခဲ့ပြီ' ဟု ပြောဆိုလေသည်။

---

➤➤ ဂျန္နတ်အမတ သုခဘုံသားများသည်ကား ကာယသုခ၊ စိတ္တသုခနှစ်ပါးနှင့် ပြည့်စုံစေနိုင်သော အမျိုးမျိုးသော သုခချမ်းသာများကို ရရှိကြမည့်အပြင် စိတ်သဘောချင်းမျှသော လူ့ဘဝတွင် အထွဋ်အထိပ်သို့ ရောက်ရှိနေသော၊ အလွန်မွန်မြတ်လှသော မိတ်ဆွေကောင်း မိတ်ဆွေမြတ်များနှင့်အတူ နေထိုင်ခွင့်လည်း ရရှိမည့် အကြောင်း ဤမုကဒ္ဒပါဠ်တော်တွင် ကောင်းချီးသတင်းပေးထားတော်မူသည်။ (မာဂျိဒီ)

وَلَئِنْ أَصَابَكُمْ فَضْلٌ مِّنَ اللَّهِ لَيَقُولَنَّ كَأَن لَّمْ تَكُن بَيْنَكُمْ وَبَيْنَهُ مَوَدَّةٌ يَا لَيْتَنِي كُنتُ مَعَهُمْ فَأَفُوزَ فَوْزًا عَظِيمًا ﴿٧٣﴾

၇၃။ သို့ရာတွင် အကယ်၍ အသင်တို့၌ အလ္လာဟ်အရှင်မြတ် ထံတော်မှ ကျေးဇူးတော်သည် ဆိုက်ရောက်ခဲ့မူ၊ ထိုသူသည် အသင်တို့နှင့်၎င်း၏အကြားတွင် ခင်မင်ရင်းနှီးမှု လုံးဝ မရှိခဲ့ဘူးသည့်အလား၊ "သြော်– ကျွန်ုပ်သည်လည်း ထိုသူတို့နှင့် အတူ (စစ်မြေပြင်သို့ လိုက်ပါသွားသည်) ဖြစ်ခဲ့ပါလျှင်၊ ကောင်းလေစွတကား၊ သို့(လိုက်ပါသွားခဲ့)ပါလျှင်၊ ကျွန်ုပ်သည်လည်း (၎င်းတို့ကဲ့သို့ပင်) ကြီးကျယ်လှစွာသော အောင်မြင်မှုကို ရရှိချေမည်တကား" ဟု ဧကန်မလွဲ (ဟစ်ကြွေး) ပြောဆိုလေသတည်း။

فَلْيُقَاتِلْ فِي سَبِيلِ اللَّهِ الَّذِينَ يَشْرُونَ الْحَيَاةَ الدُّنْيَا بِالْآخِرَةِ ۚ وَمَن يُقَاتِلْ فِي سَبِيلِ اللَّهِ فَيُقْتَلْ أَوْ يَغْلِبْ فَسَوْفَ نُؤْتِيهِ أَجْرًا عَظِيمًا ﴿٧٤﴾

၇၄။ သို့ဖြစ်ပေရာ ပစ္စုပ္ပန်ဘဝကို နောင်တမလွန်ဘဝဖြင့် လဲလှယ် ရောင်းချကြသော သူတို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ကြရပေမည်။

(တနည်း:- သို့ ဖြစ်ပေရာ ထိုသူသည် အလ္လာဟ် အရှင်မြတ်၏ လမ်းတော်၌ အကြင်သူများနှင့် စစ်မက် ပြိုင်ဆိုင် တိုက်ခိုက်ရပေမည်။ ထိုသူတို့သည် မျက်မှောက်ဘဝကို နောင်တမလွန်ဘဝဖြင့် လဲလှယ်ဝယ်ယူကြ၏)

စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်အံ့။ ထို့နောက် သို့ တိုက်ခိုက်ရာတွင် ထိုသူသည် အသတ်ခံရသည်ဖြစ်စေ၊ အောင်နိုင်သည်ဖြစ်စေ ငါအရှင်သည် ထိုသူ့အား မကြာမြင့်မီ အတွင်း ကြီးကျယ်မြင့်မြတ်သော အကျိုးကို ပေးသနားတော်မူအံ့။

**၇၅။** စင်စစ်ဆိုသော် အသင်တို့၌ မည်သည့် အကြောင်း ရှိချေသနည်း။ အသင်တို့သည် အလ္လာဟ် အရှင်မြတ်၏ လမ်းတော်၌ လည်းကောင်း၊ အကြင် အင်အားချည့်နဲ့သော ယောကျာ်း၊ မိန်းမနှင့် ကလေး သူငယ်တို့(အား ကယ်တင်ရန်)အလို့ငှာ လည်းကောင်း၊ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်း မပြုကြချေ။

ထို (ယောကျာ်း၊ မိန်းမနှင့် ကလေးသူငယ်) တို့သည်ကား၊ 'အို- ကျွန်တော်မျိုးတို့အား ဖန်ဆင်း မွေးမြူတော် မူသော အရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ဤအကြင် မြို့ရွာမှ ထုတ် ဆောင်တော်မူပါ။ ထို မြို့ရွာသူ မြို့ရွာသားများ သည် မတရားနိုပ်စက် ညှဉ်းပန်းသူများ ဖြစ်ကြပါ၏။ ၎င်းပြင် အရှင်မြတ်သည် ကျွန်တော်မျိုးတို့အဘို့ မိမိအထံတော်မှ အဆွေခင်ပွန်းတဦးဦးကို ဖန်တီး၍ ပေးသနားတော်မူပါ။ ထိုနည်းတူစွာ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အဘို့ မိမိ အထံတော်မှ ကာကွယ် စောင့်ရှောက်မည့်သူ တဦးဦးကိုလည်း ဖန်တီး၍ ပေးသနားတော်မူပါ' ဟု လျှောက်ထား ပန်ကြားလျက် ရှိကြကုန်သတည်း။

**၇၆။** မုအ်မင်န်တို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ကြ၏။ ကာဖိရ်တို့သည်မူကား တွာဃူတ်၏လမ်း၌ စစ်မက် ပြိုင်ဆိုင်တိုက်ခိုက်ကြ၏။ သို့ဖြစ်ပေရာ အသင်တို့ သည် ရှိုင်တွာန်၏အဆွေခင်ပွန်းတို့ကို တိုက်ခိုက် ကြကုန်၏။

မုချဧကန် ရှိုင်တွာန်၏ ပရိယာယ်သည် ချည့်နဲ့ လှပေသည်။ (တနည်း-ပေါ့ပျက်လှပေသည်)။

وَمَا لَكُمْ لَا تُقَاتِلُونَ فِي سَبِيلِ اللَّهِ وَالْمُسْتَضْعَفِينَ مِنَ الرِّجَالِ وَالنِّسَاءِ وَالْوِلْدَانِ الَّذِينَ يَقُولُونَ رَبَّنَا أَخْرِجْنَا مِنْ هَٰذِهِ الْقَرْيَةِ الظَّالِمِ أَهْلُهَا وَاجْعَلْ لَنَا مِنْ لَدُنْكَ وَلِيًّا وَاجْعَلْ لَنَا مِنْ لَدُنْكَ نَصِيرًا ﴿٧٥﴾

الَّذِينَ آمَنُوا يُقَاتِلُونَ فِي سَبِيلِ اللَّهِ ۖ وَالَّذِينَ كَفَرُوا يُقَاتِلُونَ فِي سَبِيلِ الطَّاغُوتِ فَقَاتِلُوا أَوْلِيَاءَ الشَّيْطَانِ ۖ إِنَّ كَيْدَ الشَّيْطَانِ كَانَ ضَعِيفًا ﴿٧٦﴾

أَلَمْ تَرَ إِلَى الَّذِينَ قِيلَ
لَهُمْ كُفُّوا أَيْدِيَكُمْ وَأَقِيمُوا
الصَّلٰوةَ وَاٰتُوا الزَّكٰوةَ فَلَمَّا
كُتِبَ عَلَيْهِمُ الْقِتَالُ إِذَا
فَرِيقٌ مِّنْهُمْ يَخْشَوْنَ النَّاسَ
كَخَشْيَةِ اللّٰهِ أَوْ أَشَدَّ خَشْيَةً ۚ
وَقَالُوا رَبَّنَا لِمَ كَتَبْتَ عَلَيْنَا
الْقِتَالَ ۚ لَوْلَا أَخَّرْتَنَا إِلَىٰ
أَجَلٍ قَرِيبٍ ۗ قُلْ مَتَاعُ
الدُّنْيَا قَلِيلٌ ۚ وَالْاٰخِرَةُ
خَيْرٌ لِّمَنِ اتَّقٰى ۚ وَلَا

၇၇။ (အို-နဗီတမန်တော်) အသင်သည် အကြင်သူတို့(၏ ဖြစ်အင်)ကို မတွေ့မမြင်ပါလေသလော။ (ထိုသူတို့သည် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန် အမိန့်မကျရောက်မီက စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ကြရန် အလွန် စိတ်အားထက်သန်နေကြသဖြင့်) ၎င်းတို့အား အသင်တို့သည် မိမိတို့ လက်များကို (စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ခြင်းမှ) ချုပ်တည်း၍ ထားရှိကာ "ဆွလာတ်" ဝတ်ပြုမှုကို ဆောက်တည်နေကြကုန်၊ ၎င်းပြင် ဇကာတ်တရားဝင် ဒါနကြေး ပေးဆောင်နေကြကုန် ဟု ပြောခဲ့ဘူးလေသည်။

တဖန် ထိုသူတို့အပေါ်၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန် (အမိန့်တော်သည်) အတည် ဖြစ်လာခဲ့သောအခါ ၎င်းတို့အနက်မှ လူတစုသည် အလ္လာဟ် အရှင်မြတ်ကို ကြောက်ရွံ့ဘိသကဲ့သို့ပင် လူတို့ကို ကြောက်ရွံ့လာကြရုံမျှမက အလ္လာဟ် အရှင်မြတ်ထက်ပင် ပိုမို၍ ကြောက်ရွံ့လာကြကုန်၏။

၎င်းပြင် ထိုသူတို့က ပြောဆိုခဲ့ကြသည်မှာ "အို- ကျွန်တော်မျိုးတို့၏အရှင်၊ အရှင်မြတ်သည် မည်သည့်အတွက်ကြောင့် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းကို ကျွန်တော်မျိုးတို့အပေါ်၌ သတ်မှတ်အတည်ပြုတော် မူပါသနည်း။ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ထပ်မံ၍ ရက်အနည်းငယ် ရွှေ့ဆိုင်းပေးတော် မူခဲ့ပါလျှင် တော်လေစွတကား" ဟု လျှောက်ထား ပန်ကြားခဲ့ကြကုန်သည်။ ၁

(၁) ဟစ်ဂျ်ရဟ် မပြုလုပ်မီအလျင် မွတ်စ်လင်မ်တို့သည် မက္ကာမြို့တွင် ကာဖိရ်တို့၏ နှိပ်စက်ညှဉ်းပန်းမှုဒဏ်အမျိုးမျိုးကို အကြီးအကျယ် ခံစားနေခဲ့ကြကုန်၏။ ထိုအချိန်တွင် မွတ်စ်လင်မ်များသည် မခံမရပ်နိုင်ဖြစ်ပြီး တမန်တော်မြတ်ထံ လာရောက်ကာ ကာဖိရ်တို့အား စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်၍ လက်စားချေနိုင်ရန် ➢➢

تُظْلَمُونَ فَتِيلًا ۝٧٧

(အို-နဗီတမန်တော်) အသင်သည် (ယင်းတို့အား) "လောကီအကျိုးခံစားမှုသည် ခေတ္တခဏမျှအဘို့သာဖြစ်၍ ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်သောသူ(တော်စင်)များအဘို့ နောင်တမလွန်ဘဝ (၏အကျိုးကျေးဇူးများ) သည်သာလျှင် အမွန်အမြတ်ဆုံး ဖြစ်ပေသည်။ ထိုမှတပါးတုံ အသင်တို့သည် ဆံခြည်ခန့်မျှပင် မတော်မတရားနှိပ်စက်မှုကို ခံကြရမည်မဟုတ်ပေ" ဟု ဖြေကြားပါလေ။ ၁

---

➤➤ ခွင့်ပန်ကြလေသည်။ တမန်တော်မြတ်က ယခုအချိန်ထိ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန် အမိန့်တော် မကျရောက်သေးကြောင်း၊ သည်းခံ၍ လျစ်လျူရှုကာ နေထိုင်ကြရမည့်အကြောင်း၊ အမိန့်တော် ရောက်ရှိပြီးဖြစ်သော ဆွလာတ်နှင့် ဇကာတ်များကို ဆောက်တည်နေကြရမည့် အကြောင်း ပြန်ကြားတော် မူလေသည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို နာခံရာတွင် စိတ်ဓါတ်ကို ချုပ်တည်းနိုင်ခြင်း၊ ဒုက္ခခံနိုင်ခြင်း၊ ဥစ္စာပစ္စည်းများကို စွန့်ကြဲလှူဒါန်းနိုင်ခြင်း အစရှိသည့် အရည်အချင်းများသည် မုချရှိရပေမည်။ ဤသို့သော အရည်အချင်းများမရှိလျှင် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန်နှင့် အသက်စွန့်ရန်မှာ ခဲယဉ်းလှပေသည်။ ထိုအချိန်တွင် မွတ်စ်လင်မ်များသည် တမန်တော်မြတ်၏ ဩဝါဒများကို လက်ခံသဘောတူသွားကြလေသည်။

နောက်ဆုံးတွင် မဒီနာမြို့သို့ ဟစ်ဂျ်ရဟ် ပြုလုပ်ရန် အမိန့်တော် ကျရောက်လာ၏။ (မွတ်စ်လင်မ်တို့သည် လည်း ဟစ်ဂျ်ရဟ်ပြုလုပ်ပြီး လိုအပ်သော အရည်အချင်းများနှင့် ပြည့်စုံသည့်အခါ အလ္လာဟ်အရှင်မြတ် အထံတော်မှ ကာဖိရ်တို့နှင့် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန် အမိန့်တော် ကျရောက်လာခဲ့လေသည်) ထိုအခါ စိတ်ဓါတ် နုနယ်သေးသော အချို့ မွတ်စ်လင်မ်များသည် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရမည့် အရေးကိုပင် အကြောက်ကြီး ကြောက်ကာ အလ္လာဟ်အရှင်မြတ်၏ အထံတော်၌ စစ်အမိန့်တော်ကို ခေတ္တခဏ ရွှေ့ဆိုင်းပေးတော်မူပါမည့်အကြောင်း လျှောက်ထားပန်ကြားလေသည်။

① ကာဖိရ်တို့နှင့် စစ်မက်ပြိုင်ဆိုင် မတိုက်ခိုက်လိုခြင်း၊ အသက်ရှည်လျားစွာ နေထိုင်လိုခြင်းများသည် လောကီ စည်းစိမ်များကို ခင်တွယ်ခြင်းကြောင့်သာ ဖြစ်ချေသည်။ အမှန်မှာ လောကီဘဝဖြင့် လောကီ စည်းစိမ်များသည် မမြဲသော အနိစ္စမျှသာဖြစ်ချေသည်။ သတ္တဝါမှန်သမျှတို့သည်လည်း သေကြရမည်သာ ဖြစ်ချေသည်။ နှစ်သက် မြတ်နိုးအပ်သော အရာကား နောင်တမလွန်ဘဝနှင့် နောင်တမလွန်ဘဝရှိ သုခများသာ ဖြစ်ချေသည်။ အဘယ်ကြောင့်ဆိုသော် နောင်တမလွန်ဘဝသည် နိစ္စဖြစ်ချေသည်။ ထို့အတူ နောင်တမလွန်ဘဝရှိ သုခများသည်လည်း အမတပင်ဖြစ်ချေသည်။ ထိုနိစ္စဘဝနှင့် အမတသုခများကိုရရှိနိုင်သော အကြောင်းတရားများမှာ "တာက္ကဝါ" အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ ရိုသေမြတ်နိုးခြင်းနှင့် ထိုအရှင်မြတ်၏ အမိန့်တော်များကို လိုက်နာကျင့်သုံးခြင်းပင် ဖြစ်ချေသည်။ "ဂျီဟာဒ်" သည်လည်း တာက္ကဝါ၏ အစိတ်အပိုင်းတခုပင် ဖြစ်ချေသည်။

(မာဂျိဒီ)

أَيْنَ مَا تَكُونُوا يُدْرِككُّمُ الْمَوْتُ وَلَوْ كُنتُمْ فِي بُرُوجٍ مُّشَيَّدَةٍ ۗ وَإِن تُصِبْهُمْ حَسَنَةٌ يَقُولُوا هَٰذِهِ مِنْ عِندِ اللَّهِ ۖ وَإِن تُصِبْهُمْ سَيِّئَةٌ يَقُولُوا هَٰذِهِ مِنْ عِندِكَ ۚ قُلْ كُلٌّ مِّنْ عِندِ اللَّهِ ۖ فَمَالِ هَٰؤُلَاءِ الْقَوْمِ لَا يَكَادُونَ يَفْقَهُونَ حَدِيثًا ﴿٧٨﴾

၇၈။ အသင်တို့သည် မည်သည့်နေရာ၌ပင် ရှိစေကာမူ၊ မရဏ သေခြင်းတရားသည် အသင်တို့ထံ ရောက်ရှိ လာအံ့။ အကယ်၍ အသင်တို့သည် အလွန် ခိုင်ခံ့လုံခြုံသော ခံတပ်ရဲတိုက်များအတွင်း (ပုန်းအောင်းခိုလှုံ၍) ရှိနေကြသော်လည်း (မရဏ သေခြင်းတရားမှ လွတ်မြောက်နိုင်ကြမည် မဟုတ်ချေ၊)

၎င်းပြင် အကယ်၍ ယင်း (အယောင်ဆောင်မွတ်စ်လင်မ်)တို့၌ တစုံတရာ ကောင်းခြင်းမင်္ဂလာ ဆိုက်ရောက်ခဲ့သည်ရှိသော် ၎င်းတို့က "ဤကား အလ္လာဟ်အရှင်မြတ် အထံတော်မှ ဖြစ်သည်" ဟု ပြောဆိုလေ့ရှိကြကုန်၏။ သို့ရာတွင် အကယ်၍ ၎င်းတို့၌ အမင်္ဂလာ တစ်စုံတစ်ရာ ဆိုက်ရောက်ခဲ့သော် "ဤသည်ကား အသင့်အတွက်ကြောင့် ဖြစ်သည်" ဟု ပြောဆိုလေ့ရှိကြကုန်သည်။ [၁] အို-(နဗီတမန်တော်) အသင်သည်(ထိုသူတို့အား မင်္ဂလာအမင်္ဂလာ ဟူသမျှ) အားလုံးတို့သည်*အလ္လာဟ်အရှင်မြတ်အထံတော်မှ*ပင် [၂] ဖြစ်သည်ဟု (ပြန်လည်၍) ဖြေကြားပါလေ။ [၃]

---

(၁) ဤတွင် မုနာဖစ်က်တို့၏အကြောင်း မိန့်ဆိုထားတော်မူသည်၊ မွတ်စ်လင်မ်တို့တွင် ကောင်းရာ ကောင်းကြောင်း တခုဖြစ်လျှင် (ဥပမာ-စစ်အောင်နိုင်လျှင်) မုနာဖစ်က်တို့က ဤသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော် ဖြစ်သည်။ ကျွန်ုပ်တို့အားလုံးသည် သာတူညီမျှ အကျိုးခံစားပိုင်ခွင့် ရှိကြသည်ဟု ပြောဆိုကြသည်။ အကယ်၍ မွတ်စ်လင်မ်တို့တွင် ဒုက္ခတစ်စုံတစ်ရာ ဖြစ်ပွားလျှင် ဤသည် မွတ်စ်လင်မ်တို့နှင့် တကွ မွတ်စ်လင်မ်တို့၏ အကြီးအကဲဖြစ်သော တမန်တော်မြတ်၏ ချွတ်ယွင်းမှုကြောင့်သာ ဖြစ်ရသည်ဟု စွပ်စွဲပြောဆိုကြလေသည်။

(၂) "မင်န်အင်န်ဒီလ္လာဟ်" ဟူသော ပုဒ်၏ မူရင်း အဓိပ္ပါယ်မှာ အလ္လာဟ်အရှင်မြတ်၏အနီးမှ ဟူ၍ရသည်။ 'မိနလ္လာဟ်' ဟူသောပုဒ်၏မူရင်းအဓိပ္ပါယ်မှာ အလ္လာဟ်အရှင်မြတ်မှ ဟူ၍ရသည်။ "မင်န်အင်န်ဒီလ္လာ" ဟူသော ပုဒ်သည် ထိုအရှင်မြတ်နှစ်သက်သော အရာများနှင့်စပ်လျဉ်း၍၎င်း၊ ထိုအရှင်မြတ် မနှစ်သက်သော အရာများနှင့် စပ်လျဉ်း၍၎င်း၊ အသုံးဖြစ်ချေသည်။ မိနလ္လာဟ် ဟူသောပုဒ်မှာကား ထိုအရှင်မြတ် အမိန့်ပေးတော်မူသော အရာများနှင့် ထိုအရှင်မြတ် နှစ်သက်တော်မူသော အရာများ၌သာလျှင် အသုံးဖြစ်ချေသည်။ (ဗဟ်ရ်)

(၃) ဒုက္ခ၊ သုခ အစုစုတို့ကို အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သာလျှင် ဖြစ်စေတော်မူသည်။ သုခဖြစ်လျှင် ထိုသုခသည် လူသားတို့၏အပြုအမူများကြောင့် မဟုတ်ဘဲ အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ကြောင့် ➤➤

သို့ဖြစ်ပေရာ ဤသူတို့သည် အဘယ်ကဲ့သို့သောအဖြစ်၌ ဆိုက်ရောက်နေကြသနည်း၊ ထိုသူများသည် မည်သည့် အတွက်ကြောင့် မည်သည့်စကားကို နားမှုမလည်ဘဲ ရှိကြပါနည်း။

مَآ اَصَابَكَ مِنْ حَسَنَةٍ فَمِنَ اللّٰهِ ۡ وَمَآ اَصَابَكَ مِنْ سَيِّئَةٍ فَمِنْ نَّفْسِكَ ؕ وَاَرْسَلْنٰكَ لِلنَّاسِ رَسُوْلًا ؕ وَكَفٰى بِاللّٰهِ شَهِيْدًا ﴿٧٩﴾

၇၉။ (အို-လူသား)။ အသင်၌ ဆိုက်ရောက်သမျှသော ကောင်းခြင်းမင်္ဂလာအဖြာဖြာတို့သည် အလ္လာဟ်အရှင်မြတ်၏အထံတော်မှပင် ဖြစ်၏။ သို့ရာတွင် အသင့်၌ဆိုက်ရောက်သမျှသော ဒုက္ခဟူသရွေ့ တို့သည် မိမိ(အပြုအမူ တို့)ကြောင့် သာဖြစ်၏။ (အို-နဗီတမန်တော်) ငါအရှင်မြတ်သည် အသင့်အား လူခပ်သိမ်းတို့ထံသို့ [၁] ရစူလ် တမန်တော်အဖြစ် စေလွှတ်တော် မူခဲ့လေသည်။ အမှန်စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည်ပင်လျှင် (အသင် ရစူလ် တမန်တော်မြတ်ဖြစ်ခြင်းနှင့် စပ်လျဉ်း၍ သက်သေအဖြစ် လုံလောက်တော်မူပေသတည်း။

➤➤ သာလျှင် ဖြစ်ချေသည်။ ဒုက္ခတစ်စုံတစ်ရာ ဖြစ်လျှင်ကား ထိုဒုက္ခသည် လူသားတို့၏ မကောင်းသော အပြုအမူများကြောင့် အလ္လာဟ်အရှင်မြတ်၏ တရားမျှတစွာ စီရင်တော်မူခြင်းပင်ဖြစ်ချေသည်။

ကောင်းသောအဖြစ်တွင် ရောက်ရှိနေသော အကြင်သူတစ်ဦးသည် ထိုအဖြစ်သို့ မရောက်မီအလျှင် ထိုအဖြစ်နှင့် ညီမျှသော ကောင်းမှုများကို ပြုနိုင်ခဲ့သည် မရှိခဲ့ချေ။ ဤမျှမကသေး ထိုသူသည် ကောင်းမှုများကို မပြုလုပ်မီအလျှင်ကပင်လျှင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်များကို အများအပြားရရှိပြီး ဖြစ်ချေသည်။ မကောင်းသော အဖြစ်တွင် ရောက်နေသော အကြင်သူတစ်ဦးသည် ထိုသို့ မဖြစ်မီအလျှင် ထိုအဖြစ်ထက် ပိုမိုဆိုးရွားစေနိုင်သော မကောင်းမှုများ ပြုလုပ်ခဲ့သည်ကို တွေ့ရှိရပေမည်။ ကောင်းကျိုးသည် ကောင်းမှု၏ အကျိုးဖြစ်သည်ဟူ၍ မိန့်ဆိုထားတော်မူခြင်းမှာ အမြင်အားဖြင့်သာလျှင် ဖြစ်ချေသည်၊ အမှန်မှာ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်သာလျှင် ဖြစ်ချေသည်။ (ထာနဝီ၊ မာဂျိဒီ)

ဒုက္ခသည် မကောင်းမှု၏ အကျိုးဖြစ်သည်ဟူ၍ ဆိုထားသည်မှာ လူတိုင်းအတို့ မဟုတ်ချေ။ မကောင်းသော သူများအတွက်သာလျှင် ဖြစ်ချေသည်။ အဘယ်ကြောင့်ဆိုသော် သူတော်ကောင်းများသည်လည်း ဒုက္ခများနှင့် ရင်ဆိုင်ကြရပေသည်။ သို့ရာတွင် သူတော်ကောင်းများ၏ ဒုက္ခသည် မကောင်းမှုများကြောင့် မဟုတ်ပေ၊ သူတော်ကောင်းများ၏ ပါရမီဖြည့်ရန်အတွက်သာလျှင် ဖြစ်ချေသည်။ တနည်းဆိုသော် သူတော်ကောင်း များအတို့ ထိုဒုက္ခသည် သုခ၏ အကြောင်းတရားသာလျှင် ဖြစ်ချေသည်။

(၁) ဤမုက္ခပါဌ်တော်တွင်ပါရှိသော လူသားများဟူသည် အရဗ်လူမျိုးများကိုသာဆိုလိုသည်မဟုတ်ပေ။ ➤➤

၈၀။ မည်သူမဆို ရစူလ်တမန်တော်၏ အမိန့်တော်များကို လိုက်နာပါလျှင်၊ ထိုသူသည် ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်များကို လိုက်နာသည်မည်၏။ [၁] သို့ရာတွင် မည်သူမဆို (အသင်၏ အမိန့်များကိုသွေဖည်၍) မျက်နှာလွှဲဖယ်သွားခဲ့ပါမူ (အသင်၏ တာဝန်မဟုတ်ချေ) ငါအရှင်မြတ်သည် အသင့်အား ထိုသူတို့အပေါ်၌ (တာဝန်ခံ) အုပ်ထိန်းသူအဖြစ် စေလွှတ်တော်မူခဲ့သည်မဟုတ်ပေ။ [၂]

مَنْ يُطِعِ الرَّسُولَ فَقَدْ أَطَاعَ اللّٰهَ ۚ وَمَنْ تَوَلّٰى فَمَآ أَرْسَلْنٰكَ عَلَيْهِمْ حَفِيظًا ﴿٨٠﴾

၈၁။ ထို့ပြင်တဝ ၎င်း("မုနာဖစ်က်" အယောင်ဆောင် မွတ်စ်လင်မ်)တို့သည် (အသင်၏ ရှေ့၌မူ ကျွန်တော်များ၏တာဝန်ကား အသင် နဗီတမန်တော်၏အမိန့်တော်များကို မပျက်မကွက်) "လိုက်နာရန်သာ ရှိသည်" ဟု ပြောဆိုလေ့ရှိကြကုန်၏။ တဖန် အသင်၏ထံမှ ထွက်ခွာသွားကြသောအခါ ၎င်းတို့အနက်မှ လူတစုသည် မိမိတို့ ပြောဆိုခဲ့ကြသော အချက်များနှင့် ဆန့်ကျင်သော ကိစ္စများကို ညဉ့်အချိန်၌ တိုင်ပင် ဆွေးနွေးကြကုန်သည်။

وَيَقُولُونَ طَاعَةٌ فَإِذَا بَرَزُوا مِنْ عِنْدِكَ بَيَّتَ طَآئِفَةٌ مِّنْهُمْ غَيْرَ الَّذِي تَقُولُ ۖ وَاللّٰهُ يَكْتُبُ مَا يُبَيِّتُونَ ۖ فَأَعْرِضْ عَنْهُمْ وَتَوَكَّلْ عَلَى اللّٰهِ ۚ

---

➤➤ ကမ္ဘာ့အဝှန်းရှိ လူမျိုးအသီးသီးတို့ကို ဆိုလိုသည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် တမန်တော်မြတ်သည် ကမ္ဘာ့အဝှန်းအတွက် နဗီတမန်တော်အဖြစ် ပွင့်တော်မူခဲ့ကြောင်း ထင်ရှားသိရပေသည်။

(၁) အကြင်သူသည် ရစူလ်တမန်တော်မြတ်၏ အမိန့်တော်ကို နာခံ၏။ ထိုသူသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို နာခံသည်မည်၏။ ဤမုကွပါဌ်တော်ကို ထောက်ရှုခြင်းအားဖြင့် တမန်တော်မြတ်သည် "မအ်ဆူမ်" လုံးဝအပြစ်ကင်းသော သူမွန်သူမြတ်ဖြစ်ကြောင်း သိရှိရပေသည်။ အကယ်၍သာ တမန်တော်မြတ်၌ အနည်းငယ်မျှပင် မှားယွင်းမှု၊ ချွတ်ယွင်းမှုများ ရှိပါလျှင် တမန်တော်မြတ်၏ အမိန့်နာခံခြင်းသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော် နာခံရာရောက်ပေသည်ဟူ၍ မိန့်ကြားတော်မူမည်မဟုတ်ချေ။

(၂) တမန်တော်မြတ်သည် အမိန့်တော်ကို သွေဖည်ငြင်းဆန်လျက်ရှိသော ကာဖိရ်တို့၏ အရေးနှင့် စပ်လျဉ်း၍ ပူပင်သောက ဖြစ်လျက်ရှိပေရာ အလ္လာဟ်အရှင်မြတ်က "ငါသည် အသင့်အား ထိုသူတို့ အပေါ်၌ (တာဝန်ခံ) အုပ်ထိန်းသူအဖြစ် စေလွှတ်တော်မူခဲ့သည်မဟုတ်ချေ" ဟု မိန့်ကြားတော်မူလေသည်။ ဆိုလိုသည်ကား တမန်တော်မြတ်၏ တာဝန်မှာ တရားဓမ္မဟောကြား ဆိုဆုံးမခြင်းသာဖြစ်သည်။ လိုက်နာခြင်း မလိုက်နာခြင်းသည် တရားနာသူတို့၏ တာဝန်သာဖြစ်ချေသည်။ ထိုသူတို့၏ မလိုက်နာမှုနှင့် စပ်လျဉ်း၍ တမန်တော်၌ တစ်စုံတစ်ရာ တာဝန်မရှိပေရာ ပူပင်သောကဖြစ်ရန်လည်း မလိုပေဟူလို။(ထာနဝီ)

وَكَفَىٰ بِاللَّهِ وَكِيلًا ﴿٨١﴾

အလ္လာဟ် အရှင်မြတ်သည်လည်း ၎င်းတို့ ညဥ့်အချိန်၌ ဆွေးနွေးကြသောကိစ္စများကို ရေးသား လျက် ရှိတော်မူ၏။ [၁] သို့ဖြစ်ပေရာ အသင်သည် ထိုသူတို့အား လျစ်လျူရှုပြီး အလ္လာဟ်အရှင်မြတ် အားသာ ယုံကြည်စိတ်ချ အားထား၍နေပါလေ။

အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ် သည်သာလျှင် ယုံကြည်အားထားရာ အရှင်အဖြစ် လုံလောက်တော် မူပေသတည်း။

أَفَلَا يَتَدَبَّرُونَ الْقُرْآنَ ۚ وَلَوْ كَانَ مِنْ عِندِ غَيْرِ اللَّهِ لَوَجَدُوا فِيهِ اخْتِلَافًا كَثِيرًا ﴿٨٢﴾

**၈၂။** ၎င်းတို့သည် ကုရ်အာန် ကျမ်းတော်မြတ်ကို လေ့လာဆင်ခြင် သုံးသပ်ခြင်း မရှိကြပါသလော။ [၂] အကယ်၍သာ ယင်း (ကုရ်အာန် ကျမ်းတော်မြတ်) သည် အလ္လာဟ် အရှင်မြတ်မှတပါး အခြားသူ၏ ထံမှ (ရောက်ရှိလာသော ကျမ်းဂန်)သာ ဖြစ်ခဲ့ပါမူ၊ ထိုသူတို့သည် ၎င်း(ကုရ်အာန် ကျမ်းတော်)တွင် မြောက်မြားစွာသော ကွဲလွဲမှုတို့ကို မလွဲဧကန် တွေ့ရှိ ခဲ့ကြကုန်အံ့။

---

(၁) ထိုမုနာဖစ်က် ခေါင်းဆောင်တို့၏ ဆွေးနွေးချက်များကို အလ္လာဟ်အရှင်မြတ်သည် ရေးမှတ်ထားတော်မူသည်၊ ထိုအရှင်မြတ်သည် ထိုသူတို့အား ထိုသူတို့၏ ယုတ်မာသောအကြံအစည်များ အလျောက် ပြစ်ဒဏ်ပေးတော်မူမည် ဟူလိုရာ အသင်သည် ထိုသူတို့အား လျစ်လျူရှုပြီး၊ အလ္လာဟ်အရှင်မြတ်အားသာ ယုံကြည်စိတ်ချ အားထား၍ နေပါလေ။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည်သာလျှင် ယုံကြည်စိတ်ချအားထားရာ အရှင်အဖြစ် လုံလောက်တော်မူပေသတည်း။

(၂) အထက်တွင် ပါရှိခဲ့သော မုက္ခပါဌ်တော်များကို ထောက်ရှုခြင်းအားဖြင့် တမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်ဖြစ်ကြောင်း၊ တမန်တော်မြတ်၏ အမိန့်နာခံခြင်းသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော် နာခံရမည်ကြောင်း၊ အမိန့်တော်ကို သွေဖည်ငြင်းပယ်သော သူသည် ထိုအရှင်မြတ်၏ အပြစ်ဒဏ်သင့်မည် ဖြစ်ကြောင်း ကောင်းစွာ သိရှိရပေသည်။ သို့ရာတွင် မုနာဖစ်က်များနှင့် အမိန့်တော်ကို ဆန့်ကျင်သောသူများက ကျွန်ုပ်တို့အတို့ အလ္လာဟ်အရှင်မြတ်၏ သက်သေခံချက်နှင့် စပ်လျဉ်း၍၎င်း၊ ထိုအရှင်မြတ်၏ အမိန့်တော်ကို ယုံကြည်ခြင်း၊ နာခံခြင်းနှင့် စပ်လျဉ်း၍၎င်း၊ တစ်စုံတစ်ရာ ငြင်းဆိုရန် မရှိသော်လည်း ဤကုရ်အာန်သည် အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန် အစစ်အမှန် ဖြစ်သည်ကိုမူ အသို့ သိနိုင်အံ့နည်းဟု ပြောဆိုကြသည်။

وَإِذَا جَآءَهُمْ أَمْرٌ مِّنَ ٱلْأَمْنِ
أَوِ ٱلْخَوْفِ أَذَاعُوا۟ بِهِۦ ۖ
وَلَوْ رَدُّوهُ إِلَى ٱلرَّسُولِ
وَإِلَىٰٓ أُو۟لِى ٱلْأَمْرِ مِنْهُمْ لَعَلِمَهُ
ٱلَّذِينَ يَسْتَنۢبِطُونَهُۥ مِنْهُمْ ۗ
وَلَوْلَا فَضْلُ ٱللَّهِ عَلَيْكُمْ
وَرَحْمَتُهُۥ لَٱتَّبَعْتُمُ ٱلشَّيْطَٰنَ
إِلَّا قَلِيلًا ﴿٨٣﴾

၈၃။ ထိုမှတပါးတုံ ၎င်းတို့ထံ စိတ်အေးဘွယ်ရာသော သတင်းတရပ်ရပ်၊ သို့မဟုတ် ကြောက်ရွံ့စိုးရိမ်ဘွယ်ရာသော သတင်း တရပ်ရပ် ရောက်ရှိလတ်သော်၊ ထိုသူတို့သည် ၎င်းသတင်းကို (စဉ်းစားဆင်ခြင်သုံးသပ်ခြင်းမရှိဘဲ ချက်ခြင်းပင်) ပျံ့နှံ့စေလေ့ရှိကြသည်။ [၁]

အကယ်၍သာ ထိုသူတို့သည် ၎င်းသတင်းကို ရစူလ်တမန်တော်ထံသို့ဖြစ်စေ၊ သို့မဟုတ် ဩဇာအာဏာရှိသူများထံသို့ဖြစ်စေ၊ ပို့ဆောင်လွှဲအပ်ခဲ့ကြပါမူ၊ ထိုသူတို့အနက်မှ နက်နဲစွာ စဉ်းစားဆင်ခြင်တတ်သော သူတို့သည် ထိုသတင်း(၏အခြေအမြစ်)ကို မလွှဲဧကန် (ဝေဖန်ပိုင်းခြား၍) သိရှိကြပေမည်။

အမှန် စင်စစ်သော်ကား အကယ်၍သာ အသင်တို့ အပေါ်ဝယ် အလ္လာဟ် အရှင်မြတ်၏ ကျေးဇူးတော်နှင့် ကရုဏာတော်သည် မရှိခဲ့ပါမူ အနည်းငယ်သော သူတို့မှအပ အသင်တို့ (အားလုံး) သည် "ရှိုင်တွာန်" ၏နောက်သို့ မုချ လိုက်ခဲ့ကြမည်သာတည်း။

---

(၁) ဤမုက္ခပါဌ်တော်သည် မုနာဖစ်က်များနှင့် အသိအလိမ္မာ အမြော်အမြင် နည်းပါးသော မွတ်စ်လင်မ်များအား ရည်ညွှန်း၍ ဟောကြားတော်မူသော မုက္ခပါဌ်တော်ဖြစ်သည်။ ရှ (ဂျလာလိုင်န်)။ ချမ်းမြေ့သာယာသော သတင်းဟူသည်ကား ဥပမာ -အသင်းအဖွဲ့ တစ်ခုခုနှင့် တမန်တော်မြတ်သည် ငြိမ်းချမ်းရေး စာချုပ်ချုပ်ဆိုသည်၊ မွတ်စ်လင်တို့ စစ်အောင်နိုင်ကြသည် စသည့် သတင်းများဖြစ်သည်။ စိုးရိမ်ကြောက်လန့်ဘွယ် သတင်းဟူသည်ကား ဥပမာ-မွတ်စ်လင်မ်တို့ စစ်ရေးရှုံးနိမ့်ကြသည်။ ရန်သူများ စုရုံးနေကြသည် စသည့် သတင်းများဖြစ်သည်။ အစ္စလာမ် သာသနာသည် အစည်းအရုံးကြီး တစ်ခုဖြစ်၏။ အစည်းအရုံးနှင့် စပ်လျဉ်းသော သတင်းများကို သက်ဆိုင်ရာ အာဏာပိုင် တို့တွင်သာလျှင် ထုတ်ဖော် ကျေညာပိုင်ခွင့်ရှိသည်၊ သို့ဖြစ်ပေရာ ထိုသူတို့သည် ထိုသို့သော သတင်းများကို ရရှိလျှင် တမန်တော်မြတ်အား ၎င်း၊ သက်ဆိုင်ရာ သာဝကကြီးများကို ၎င်း၊ ဦးစွာ ပဌမ အသိပေးကြရပေမည်။ ထိုသို့သော သတင်းများကို မစူးစမ်းမဆင်ခြင်ဘဲ မိမိတို့ ကိုယ်တိုင်တာဝန်မဲ့ အုတ်အုတ်ကျက်ကျက် ထုတ်ဖော်မပြောဆိုသင့်ကြပေ။ ဤသို့ တာဝန်မဲ့ ပြောဆိုကြသည့်အတွက် များသောအားဖြင့် မွတ်စ်လင်မ်တို့သည် နစ်နာဆုံးရှုံးခဲ့ကြရပေသည်။

فَقَاتِلْ فِيْ سَبِيْلِ اللّٰهِ ۚ
لَا تُكَلَّفُ اِلَّا نَفْسَكَ
وَحَرِّضِ الْمُؤْمِنِيْنَ ۚ عَسَى
اللّٰهُ اَنْ يَّكُفَّ بَأْسَ الَّذِيْنَ
كَفَرُوْا ۭ وَاللّٰهُ اَشَدُّ بَاْسًا
وَّاَشَدُّ تَنْكِيْلًا ﴿٨٤﴾

**၈၄။** သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ပါလေ။ အသင်၌ အသင်၏ တာဝန်သာရှိသည်။ (အခြားသူ၏ တာဝန်မရှိချေ)။ သို့ရာတွင်အသင်သည် မုအ်မင်န် သက်ဝင်ယုံကြည်သူတို့အား (စစ်မက် ပြိုင်ဆိုင် တိုက်ခိုက်ကြရန်) တိုက်တွန်းနှိုးဆော်လျက် ရှိပါလေ။

မကြာမြင့်မီ အလ္လာဟ် အရှင်မြတ်သည် 'ကာဖိရ်' မယုံကြည် သွေဖည် ငြင်းပယ်သောသူတို့၏ အင်အားကို ဟန့်တားတော် မူဘွယ်ရာရှိ၏ အမှန်သော်ကား အလ္လာဟ် အရှင်မြတ်သည် အင်အားအကြီးမားဆုံးသော အရှင် ဖြစ်တော်မူသည့်ပြင်၊ ပြစ်ဒဏ်ပေးတော် မူရာ၌လည်း အပြင်းထန်ဆုံးသော အရှင် ဖြစ်တော်မူပေသတည်း။

مَنْ يَّشْفَعْ شَفَاعَةً حَسَنَةً
يَّكُنْ لَّهٗ نَصِيْبٌ مِّنْهَا ۚ
وَمَنْ يَّشْفَعْ شَفَاعَةً سَيِّئَةً
يَّكُنْ لَّهٗ كِفْلٌ مِّنْهَا ۭ وَكَانَ
اللّٰهُ عَلٰى كُلِّ شَيْءٍ مُّقِيْتًا ﴿٨٥﴾

**၈၅။** မည်သူမဆို ကောင်းမြတ်သော (ကိစ္စတွင်) ကြားဝင် တိုက်တွန်းအံ့၊ ပါဝင်ဆောင်ရွက်မှုကိုပြုအံ့၊ ထိုသူ၏အတွက် ယင်းပါဝင်ဆောင်ရွက်ခြင်း၏ ဝေစုဝေပုံသည်ရှိအံ့။

ထိုနည်းတူစွာ မည်သူမဆို ဆိုးယုတ်သော အမှုကိစ္စ ဆောင်ရွက်ရာတွင် ပါဝင် ဆောင်ရွက်မှုကိုပြုအံ့၊ ထိုသူ၏အပေါ်၌ ယင်းပါဝင်ဆောင်ရွက်ခြင်း၏ တာဝန်သည်ရှိအံ့။

စင်စစ်သော်ကား၊ အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ အပေါ်ဝယ် ထိန်းသိမ်းစောင့်ရှောက်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَاِذَا حُيِّيْتُمْ بِتَحِيَّةٍ فَحَيُّوْا بِاَحْسَنَ مِنْهَآ اَوْ رُدُّوْهَا ۗ اِنَّ اللّٰهَ كَانَ عَلٰى كُلِّ شَيْءٍ حَسِيْبًا ﴿٨٦﴾

**၈၆။** တဖန် အသင်တို့သည် တနည်းနည်းအားဖြင့် (စလာမ်မေတ္တာပို့သလျက်) နှုတ်ခွန်းဆက်သခြင်းကို ခံကြရသောအခါ၊ အသင်တို့သည် ထိုနှုတ်ခွန်းဆက်သခြင်းခံကြရသည်ထက် ပိုမို၍ ကောင်းမြတ်သောနည်းမျိုးဖြင့် (စလာမ်မေတ္တာပို့၍) နှုတ်ခွန်းဆက်သကြလေကုန်၊ သို့တည်းမဟုတ် ထို(နှုတ်ခွန်းဆက်ခြင်းခံကြရသည်) အတိုင်းပင် တုံ့ပြန်ကြလေကုန်။ [၁] ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စစ်ဆေးတော်မူမည့် အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) မွတ်စ်လင်မ်တစ်ဦးနှင့်တစ်ဦး တွေ့ဆုံသည့်အခါ၌၎င်း၊ ခွဲခွာသည့်အခါ၌၎င်း၊ 'စလာမ်' မေတ္တာပို့ရမည်ဟု တမန်တော် မိန့်ကြားတော်မူခဲ့သည်။

ကမ္ဘာ အရပ်ရပ်ရှိ မွတ်စ်လင်မ်များသည် တစ်ဦးနှင့်တစ်ဦး တွေ့ဆုံကြသည့် အခါ 'စလာမ်' မေတ္တာပို့ကြသည်မှာ အထင်အရှားပင် ဖြစ်ပေသည်။ ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် အစ္စလာမ် သာသနာသည် မေတ္တာတရားကို ရှေ့ရှုသော သာသနာ၊ ငြိမ်းချမ်းရေးကို လိုလားသော သာသနာ ဖြစ်ကြောင်း ထင်ရှားလှပေသည်။

မွတ်စ်လင်မ်တို့သည် မေတ္တာတရားကို လက်ကိုင်ထားသူများ၊ ငြိမ်းချမ်းရေးကို ချစ်ခင်မြတ်နိုးသော သူများ ဖြစ်ကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။

စလာမ်မေတ္တာပို့သူအား မေတ္တာတုံ့ပြန်ခြင်းသည် 'ဝါဂျိဗ်' တာဝန်ဖြစ်သည်။ မေတ္တာပို့သူ၏ မေတ္တာထက် ပိုမို ကောင်းမွန်သော မေတ္တာကို တုံ့ပြန်ရမည်။ ဥပမာ မေတ္တာပို့သူက (အာစ္စလာမု အလိုင်ကွန်မ်း) ဟု ဆိုလျှင် မေတ္တာ အပို့ခံရသူက (ဝအလိုင်ကုမုစ္စလာမ် ဝရဟ်မတုလ္လာဟိ) ဟု မေတ္တာတုံ့ပြန်ရမည်။ အကယ်၍ မေတ္တာပို့ခံရသူက (အာစ္စလာမု အလိုင်ကွန်မ် ဝရဟ်မတုလ္လာဟိ) ဟု ဆိုသော် မေတ္တာအပို့ခံရသူက (ဝအလိုင်ကုမုစ္စလာမ် ဝရဟ်မတုလ္လါဟိ ဝဗရကာတုဟူ) ဟူ၍ မေတ္တာ တုံ့ပြန်ရမည်။ သို့မဟုတ် မေတ္တာပို့သူ၏ မေတ္တာကဲ့သို့ပင် တုံ့ပြန်ရမည်။

ဤအကြောင်းနှင့် စပ်လျဉ်း၍ အချို့သာဝကကြီးများနှင့် တာဗိအီန်ပညာရှင်များ၏ အဆိုကို ဤတွင် ဖော်ပြလိုပေသည်။--

အသင်တို့သည် မိမိတို့၏ သာသနာဝင်များ အပေါ်၌ မေတ္တာ တုံ့ပြန်ရာတွင် (မေတ္တာပို့သူ၏ မေတ္တာထက်) ပိုမို ကောင်းမြတ်သော နည်းဖြင့် မေတ္တာ ပို့သကြကုန်။ ၎င်းပြင် ဘာသာခြားတို့အား မေတ္တာ တုံ့ပြန်ရာတွင် မေတ္တာပို့သူ၏ မေတ္တာကဲ့သို့ပင် တုံ့ပြန်ကြကုန်။ (အီဗ်နအဗ္ဗါစ်)



اَللّٰهُ لَآ اِلٰهَ اِلَّا هُوَ ۭ لَيَجْمَعَنَّكُمْ اِلٰى يَوْمِ الْقِيٰمَةِ لَا رَيْبَ فِيْهِ ۭ وَمَنْ اَصْدَقُ مِنَ اللّٰهِ حَدِيْثًا ﴿٨٧﴾

**၈၇။** အလ္လာဟ် အရှင်မြတ်သည် အကြင်အရှင်မြတ်ပင်တည်း၊ ထို အရှင်မြတ်မှတပါး အခြားကိုးကွယ်ရာ အလျင်းမရှိပေ၊ ထိုအရှင်မြတ်သည် မုချ အသင်တို့ကို 'ကိယာမတ်' ခေါ် ရှင်ပြန်ထမည့် နေ့တွင် စုရုံးစေသော်မူအံ့၊ ဤအရာ၌ ဒွိဟသံသယ အလျင်းမရှိရပေ၊ စင်စစ်သော်ကား စကားအရာ၌ အလ္လာဟ် အရှင်မြတ်ထက် ပိုမို မှန်ကန်စွာ ပြောဆိုသောသူ မည်သူရှိပါမည်နည်း။

فَمَا لَكُمْ فِى الْمُنٰفِقِيْنَ فِئَتَيْنِ وَاللّٰهُ اَرْكَسَهُمْ بِمَا كَسَبُوْا ۭ اَتُرِيْدُوْنَ اَنْ تَهْدُوْا مَنْ اَضَلَّ اللّٰهُ ۭ

**၈၈။** သို့ပါလျက် အသင်တို့သည် မည်သည့်အတွက်ကြောင့် "မုနာဖစ်က်" မွတ်စ်လင်မ် အယောင်ဆောင်တို့နှင့် ပတ်သက်၍ နှစ်စုကွဲနေကြပါသနည်း။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ထို 'မုနာဖစ်က်' အယောင်ဆောင် မွတ်စ်လင်မ်တို့အား ၎င်းတို့၏ ပြုမူဆည်းပူးချက်တို့ကြောင့် ပြောင်းပြန်လှည့်ထားတော်မူခဲ့လေသည်။

---

 တမန်တော်မြတ်က မိမိ၏ အသက်ဇီဝိန်ကို စိုးပိုင်တော်မူသော (အလ္လာဟ်) အရှင်မြတ်အား တိုင်တည်ကာ 'အသင်တို့သည် အီမာန်မယုံကြည်ကြသမျှ ကာလပတ်လုံး 'ဂျန္နတ်'သို့ဝင်ကြရမည်မဟုတ်ပေ၊ အသင်တို့သည် အချင်းချင်း မချစ်ခင်ကြသမျှ ကာလပတ်လုံး အီမာန်ယုံကြည်နိုင် ကြလိမ့်မည် မဟုတ်ပေ၊ ငါသည် သင်တို့အား အလုပ်တစ်ခုကို ညွှန်ပြရမည်လော၊ အသင်တို့သည် ထိုအလုပ်ကို ပြုလုပ်ကြသောအခါ အသင်တို့သည် အချင်းချင်း ချစ်ခင်ကြပေမည်။ သို့ဖြစ်လျှင်ကား အသင်တို့သည် မိမိတို့အချင်းချင်း စလာမ်မေတ္တာပို့ကြကုန်ဟု မိန့်ကြားတော်မူခဲ့လေသည်။ အဗူဒါဝူဒ်၊ တိရ်မိဇီ၊ မွတ်စ်လင်မ်။

မွတ်စ်လင်မ်တစ်ဦးအပေါ်၌ မွတ်စ်လင်မ်တစ်ဦးနှင့် စပ်လျဉ်း၍ ကောင်းမြတ်သော တာဝန် ၆-ရပ်ရှိသည်ဟု တမန်တော်မြတ်က မိန့်ကြားတော်မူခဲ့သည်။

မွတ်စ်လင်မ်တစ်ဦးသည် အခြားမွတ်စ်လင်မ်တစ်ဦးနှင့် တွေ့ဆုံလျှင် စလာမ်မေတ္တာပို့ရမည်။ ဖိတ်ခေါ်လျှင် လက်ခံရမည်။ နှာချေလျှင် 'ယရ်ဟမုကလ္လါဟ်' ဟုဆိုရမည်၊ ဖျားနာလျှင် သွားရောက်ကြည့်ရှုရမည်၊ သေလျှင် အသုဘကို လိုက်ပို့ရမည်။ မိမိအတွက် နှစ်ခြိုက်သောအရာကို အခြားမွတ်စ်လင်မ်အတွက်လည်း နှစ်ခြိုက်ရမည်။ (မစ်ရှ်ကာတ်)

وَمَنْ يُّضْلِلِ اللّٰهُ فَلَنْ
تَجِدَ لَهٗ سَبِيْلًا ﴿٨٨﴾

အသင်တို့သည် အလ္လာဟ် အရှင်မြတ်က လမ်းမှားသို့ ချထားတော်မူသော သူတို့အား တရားလမ်းမှန်သို့ ရောက်စေလိုကြသလော။ စင်စစ် (အို–နဗီတမန်တော်) အလ္လာဟ်အရှင်မြတ်က လမ်းမှားသို့ ချထားတော်မူသော သူ၏ အဘို့ မည်သည့်လမ်းကိုမျှ အသင်အလျှင်း တွေ့ရှိလိမ့်မည်မဟုတ်ချေ။

وَدُّوْا لَوْ تَكْفُرُوْنَ كَمَا
كَفَرُوْا فَتَكُوْنُوْنَ سَوَآءً
فَلَا تَتَّخِذُوْا مِنْهُمْ اَوْلِيَآءَ
حَتّٰى يُهَاجِرُوْا فِيْ سَبِيْلِ اللّٰهِ ۚ
فَاِنْ تَوَلَّوْا فَخُذُوْهُمْ
وَاقْتُلُوْهُمْ حَيْثُ
وَجَدْتُّمُوْهُمْ ۪ وَلَا تَتَّخِذُوْا
مِنْهُمْ وَلِيًّا وَّلَا نَصِيْرًا ﴿٨٩﴾

**၈၉။** ၎င်း ('မုနာဖစ်က်' မွတ်စ်လင်မ် အယောင်ဆောင်)တို့သည် မိမိတို့(ကိုယ်တိုင်) 'ကာဖိရ်' သွေဖည်ငြင်းပယ်သောသူများဖြစ်ကြသကဲ့သို့ပင် အသင်တို့လည်း 'ကာဖိရ်' သွေဖည်ငြင်းပယ်သော သူများဖြစ်ကြရန် တောင့်တကြခဲ့သည်။ သို့မှသာလျှင် အသင်တို့သည်လည်း (၎င်းတို့နှင့်) တန်းတူဖြစ်ကြကုန်အံ့၊ သို့ဖြစ်သောကြောင့် ၎င်း (မုနာဖစ်က်)တို့သည် အလ္လာဟ် အရှင်မြတ်၏ လမ်းတော်၌ (မိမိတို့၏ အိုးအိမ်တို့ကို စွန့်လွှတ်ကာ) ရွှေ့ပြောင်းထွက်ခွာသွားခြင်း မပြုသမျှ ကာလပတ်လုံး၊ အသင်တို့သည် ထိုသူတို့အနက် မည်သူတစ်ဦးတစ်ယောက်ကိုမျှ အဆွေခင်ပွန်းမပြုကြကုန်လင့်။

တဖန် အကယ်၍ ယင်းသူတို့သည် (မိမိတို့၏ အိုးအိမ်များကို စွန့်လွှတ် ရွှေ့ပြောင်းထွက်ခွာသွားရန် အမိန့်တော်ကို) သွေဖည် လွှဲရှောင်သွားခဲ့ကြပါမူ၊ အသင်တို့သည် ၎င်းတို့အား တွေ့ရှိရာအရပ်၌ ဖမ်းဆီးကြကုန်၊ သတ်ဖြတ်ကြကုန်၊ ၎င်းပြင် အသင်တို့သည် ထိုသူတို့အနက် မည်သူတဦးတယောက်ကိုမျှ အဆွေခင်ပွန်းဟူ၍၎င်း၊ မိမိတို့အား ကူညီ စောင်မမည့်သူ ဟူ၍၎င်း (မှတ်ယူခြင်း) မပြုကြကုန်လင့်။

إِلَّا الَّذِينَ يَصِلُونَ إِلَىٰ قَوْمٍ بَيْنَكُمْ وَبَيْنَهُم مِّيثَاقٌ أَوْ جَاءُوكُمْ حَصِرَتْ صُدُورُهُمْ أَن يُقَاتِلُوكُمْ أَوْ يُقَاتِلُوا قَوْمَهُمْ ۚ وَلَوْ شَاءَ اللَّهُ لَسَلَّطَهُمْ عَلَيْكُمْ فَلَقَاتَلُوكُمْ ۚ فَإِنِ اعْتَزَلُوكُمْ فَلَمْ يُقَاتِلُوكُمْ وَأَلْقَوْا إِلَيْكُمُ السَّلَمَ فَمَا جَعَلَ اللَّهُ لَكُمْ عَلَيْهِمْ سَبِيلًا ﴿٩٠﴾

၉၀။ သို့ရာတွင် အကြင် ('မုနာဖစ်က်' မွတ်စ်လင်မ် အယောင်ဆောင်) တို့သည် အကြင်အမျိုးသားတို့ထံ (သွားရောက်)ပူးပေါင်းကြကုန်၏။ အသင်တို့နှင့် ထိုအမျိုးသားတို့၏အကြားတွင် (တဘက်နှင့်တဘက် စစ်မဖြစ်ကြရန်) ပဋိညာဉ် ထားရှိပြီးဖြစ်၏။

သို့တည်းမဟုတ် ယင်း("မုနာဖစ်က်" မွတ်စ်လင်မ် အယောင်ဆောင်)တို့သည် အသင်တို့ထံ သို့ပင် လာကြသော်လည်း၊ ၎င်းတို့သည် အသင်တို့နှင့် တိုက်ခိုက်ရန်သော် လည်းကောင်း၊ မိမိတို့၏ အမျိုးသား(များ ဖြစ်သော ကာဖိရ်)တို့နှင့် တိုက်ခိုက်ရန်သော် လည်းကောင်း၊ ရင်လေးလျက် ရှိကြကုန်၏။

သို့ရာတွင် အကယ်၍သာ အလ္လာဟ်အရှင် မြတ်သည် အလိုရှိတော်မူခဲ့ပါလျှင် ဧကန်စင်စစ် ၎င်းတို့အား အသင်တို့အပေါ်ဝယ် အခွင့်အာဏာ ရှိစေတော်မူခဲ့အံ့။ (တနည်း) နိုင်နင်းစေတော်မူခဲ့အံ့။ သို့ဖြစ်ခဲ့လျှင် မုချဧကန် ထိုသူတို့သည် အသင်တို့ အား တိုက်ခိုက်ခဲ့ကြကုန်အံ့။

သို့ဖြစ်ပေရာ အကယ်၍ ၎င်းတို့သည် အသင် တို့ထံမှ ဆုတ်ခွာ၍ အသင်တို့နှင့် တိုက်ခိုက်ခြင်း မပြုဘဲ နေခဲ့ကြပါသော်၊ ထို့ပြင် ၎င်းတို့သည် အသင်တို့ထံ စစ်မက်အရေး ကျေအေးရန် ကမ်းလှမ်း ခဲ့ကြပါသော်၊ အလ္လာဟ် အရှင်မြတ်သည် အသင် တို့အား ၎င်းတို့နှင့် ဆန့်ကျင်ဘက် ပြုကြရန် (ဝါ) စစ်တိုက်ကြရန် မည်သည့်နည်းလမ်းကိုမျှ ခွင့်ပြု တော်မူသည် မဟုတ်ချေ။

سَتَجِدُونَ آخَرِينَ يُرِيدُونَ
أَن يَأْمَنُوكُمْ وَيَأْمَنُوا
قَوْمَهُمْ كُلَّمَا رُدُّوا إِلَى
الْفِتْنَةِ أُرْكِسُوا فِيهَا ۚ فَإِن لَّمْ
يَعْتَزِلُوكُمْ وَيُلْقُوا إِلَيْكُمُ
السَّلَمَ وَيَكُفُّوا أَيْدِيَهُمْ
فَخُذُوهُمْ وَاقْتُلُوهُمْ حَيْثُ
ثَقِفْتُمُوهُمْ ۚ وَأُولَٰئِكُمْ جَعَلْنَا
لَكُمْ عَلَيْهِمْ سُلْطَانًا مُّبِينًا ﴿٩١﴾

၉၁။ အသင်တို့သည် အခြားသူ တို့ကိုလည်း မကြာမြင့်မီ တွေ့ရှိကြလတ္တံ့။ ထိုသူတို့သည် အသင်တို့၏ ဘေးရန်များမှငြင်း၊ မိမိတို့လူမျိုး ဖြစ်သော ကာဖိရ်တို့၏ ဘေးရန်များမှငြင်း၊ လွတ်ကင်း ချမ်းသာစွာ နေလိုကြ၏။

(သို့ရာတွင်) ထိုသူတို့သည် မည်သည့်အခါ မျိုးမဆို စစ်တိုက်ခိုက်မှုတွင် ကာဖိရ်တို့၏ ပြန်လည်သိမ်းသွင်းခြင်းကို ခံကြရသော်၊ ထိုစစ်တိုက်ခိုက်မှုဘက်သို့ပင် ပြန်လှည့်တတ်ကြကုန်၏။ သို့ဖြစ်ပေရာ အကယ်၍သာ ၎င်းတို့သည် အသင်တို့(နှင့် ပြိုင်ဆိုင်တိုက်ခိုက်ခြင်း)မှ ဆုတ်ခွာ၍ မနေခဲ့သည် ရှိသော်၊ ၎င်းပြင် အသင်တို့ထံ စစ်မက်အရေး ကျေအေးပြေငြိမ်းရန် ကမ်းလှမ်းခြင်း မပြုခဲ့သည်ရှိသော် ၎င်းပြင် မိမိတို့ လက်များကို (အသင်တို့နှင့် ပြိုင်ဆိုင်တိုက်ခိုက်ခြင်းမှ) ချုပ်တည်း၍ထားခြင်း မပြုခဲ့ကြသည်ရှိသော် အသင်တို့သည် ၎င်းတို့အား တွေ့ရှိရာ အရပ်ဒေသ၌ ဖမ်းဆီးကြလေကုန်၊ သတ်ဖြတ်ကြလေကုန်။

ဤသူတို့အပေါ်၌ပင်လျှင် ငါအရှင်မြတ်သည် အသင်တို့အား၊ ထင်ရှားသောအခွင့်အာဏာ တန်ခိုးသတ္တိ နိုင်နင်းမှုကို ပေးသနားတော်မူခဲ့လေသည်။

وَمَا كَانَ لِمُؤْمِنٍ أَن يَقْتُلَ مُؤْمِنًا
إِلَّا خَطَأً ۚ وَمَن قَتَلَ مُؤْمِنًا خَطَأً
فَتَحْرِيرُ رَقَبَةٍ مُّؤْمِنَةٍ وَدِيَةٌ

၉၂။ ၎င်းပြင် မှားယွင်းချွတ်ချော်၍ သတ်မိခြင်းမှအပ အကြင် မွတ်စ်လင်မ် တစ်ဦးတစ်ယောက်ကို သတ်ဖြတ်ခြင်းသည် မည်သည့် မွတ်စ်လင်မ် တဦးတယောက်၏ ဂုဏ်အင်္ဂါနှင့်မျှ မညီညွတ်ချေ။ (တနည်း) မည်သည့် မွတ်စ်လင်မ် တဦးတယောက် အဘို့မျှ မထိုက်ပေ။

مُّسَلَّمَةٌ إِلَىٰٓ أَهْلِهِۦٓ إِلَّآ أَن يَصَّدَّقُوا۟ فَإِن كَانَ مِن قَوْمٍ عَدُوٍّ لَّكُمْ وَهُوَ مُؤْمِنٌ فَتَحْرِيرُ رَقَبَةٍ مُّؤْمِنَةٍ وَإِن كَانَ مِن قَوْمٍۭ بَيْنَكُمْ وَبَيْنَهُم مِّيثَٰقٌ فَدِيَةٌ مُّسَلَّمَةٌ إِلَىٰٓ أَهْلِهِۦ وَتَحْرِيرُ رَقَبَةٍ مُّؤْمِنَةٍ فَمَن لَّمْ يَجِدْ فَصِيَامُ شَهْرَيْنِ مُتَتَابِعَيْنِ تَوْبَةً

(သို့ရာတွင် အကြင်သူ တယောက်သည် မွတ်စလင်မ် တဦးတယောက်ကို မှားယွင်း ချွတ်ချော်၍ သတ်ဖြတ်မိခဲ့ပါမူ (ထိုသူ၌) မွတ်စ်လင်မ် ကျွန်တယောက်ကို လွတ်မြောက်စေရမည့်ပြင် ထို(အသတ်ခံရသော)သူ၏ ဆွေမျိုး အမွေစားအမွေခံတို့အား *လျော်ကြေးပေးရန်လည်း တာဝန်ရှိပေသည်။* [1] သို့ရာတွင် ထိုအမွေစားအမွေခံတို့က ခွင့်လွှတ်ကြသည် ရှိသော် *(လျော်ကြေးပေးရန်မလိုပေ)။* [2]

တဖန် အကယ်၍ ထို(မှားယွင်း၍ အသတ်ခံရသော)သူသည် အသင်တို့၏ ရန်သူများအသင်းမှ ဖြစ်အံ့၊ ၎င်းပြင် ထိုသူသည် မွတ်စ်လင်မ်လည်းဖြစ်အံ့၊ သို့ဖြစ်လျှင် (သတ်မိသောသူ၌) မွတ်စ်လင်မ် ကျွန် *တယောက်ကိုလွတ်မြောက်စေရန်(သာ)တာဝန်ရှိ၏။* [3]

---

(၁) မွတ်စ်လင်မ်တဦးသည် မွတ်စ်လင်မ်တဦးအား မှားယွင်း၍ သတ်ဖြတ်မိခဲ့သည်ရှိသော် မွတ်စ်လင်မ် ကြေးကျွန်တယောက်ကို သူကောင်းပြုရမည်။ ၎င်းပြင် အသတ်ခံရသူ၏ သက်ဆိုင်ရာ အမွေစားတို့အား အသက်ဘိုး လျော်ကြေးကိုလည်း ပေးဆောင်ရမည်။ အသက်ဘိုး လျော်ကြေးကို အသတ်ခံရသူ၏ အမွေစားတို့သည် တရားတော်နှင့်အညီ အမွေခွဲတမ်းအလိုက် အချိုးကျ ခွဲဝေယူကြရသည်။

**မှတ်ချက်။**

လူသတ်မှု ကျူးလွန်မိသည့်အတွက် ကျွန်ကိုသူကောင်းပြုခြင်း၊ ကျွန်ကိုသူကောင်းမပြုနိုင်ပါက နှစ်လတိတိ အဆက်မပြတ် ဆွမ်(ယာမ်) ဥပုသ်ဆောက်တည်ခြင်းကို 'ကဖ်ဖါရဟ်' ဟုခေါ်၏။ အသက်ဘိုး လျော်ကြေးကို 'ဒီယတ်' ဟုခေါ်၏။

(၂) အသတ်ခံရသူတို့၏ အမွေစားတို့က 'ဒီယတ်' အသက်ဘိုး လျော်ကြေးအနက် အချို့အဝက်ကိုင်း၊ အားလုံးကိုင်း၊ ခွင့်လွှတ်လိုက ခွင့်လွှတ်နိုင်ကြပေသည်။ သက်ဆိုင်ရာ အမွေစားတို့က အသက်ဘိုး လျော်ကြေးကို ခွင့်လွှတ်လိုက ခွင့်လွှတ်နိုင်သော်လည်း 'ကဖ်ဖါရဟ်' အာပတ်ဖြေမှုကိုကား မည်သူတဦးတယောက်မျှ ခွင့်လွှတ်နိုင်သည်မရှိချေ။

(၃) အကယ်၍ မွတ်စ်လင်မ် တဦးတယောက်သည် 'ဒါရုလ်ဟာရ်ဗ်' ရန်သူ ကာဖိရ်နိုင်ငံတွင် နေထိုင်၏ သို့တစေလည်း ထိုသူ၏အသက်ကို မွတ်စ်လင်မ်ဖြစ်နေသည့်အတွက် ကာကွယ်ထိန်းသိမ်းရန် တာဝန်ရှိပေသည်။ ထို့အတွက်ကြောင့် လည်း ထိုကဲ့သို့သော မွတ်စ်လင်မ်တဦးတယောက်အား မှားယွင်း၍သတ်ဖြတ်မိသည်ရှိသော် 'ကဖ်ဖါရဟ်' ပေးရပေသည်။ 'ဒီယတ်' အသက်ဘိုး လျော်ကြေးပေးရန်ကား မလိုချေ။

အဘယ်ကြောင့်ဆိုသော် ထိုအသတ်ခံရသော မွတ်စ်လင်မ်၏ အမွေစားအမွေခံများသည် ➤➤

مِّنَ اللَّهِ ۗ وَكَانَ اللَّهُ عَلِيمًا
حَكِيمًا ﴿٩٢﴾

ငင်းပြင် အကယ်၍ ထို(မှားယွင်း၍ အသတ်ခံရသော) သူသည် အသင်တို့၏ မဟာမိတ်တို့ အသင်းမှဖြစ်ခဲ့လျှင် ၎င်း၏ အမွေစားအမွေခံတို့အား လျော်ကြေး ပေးရမည့်အပြင်၊ မွတ်စ်လင်မ် ကျွန်တယောက်ကိုလည်း လွတ်မြောက်စေရန် တာဝန်ရှိပေသေး၏။ တဖန်အကြင်သူသည် (ကျွန်ကို လွတ်မြောက်စေရန် စရိတ်စက) မတတ်နိုင်ခဲ့လျှင် ထိုသူသည် *နှစ်လတိတိ အဆက်မပြတ် တဆက်တည်း ဥပုသ်သီလ ဆောက်တည်ရပေမည်။* [၁] (ဤသည်) အလ္လာဟ်အရှင်မြတ် အထံတော်မှ သတ်မှတ်ပြဋ္ဌာန်းတော်မူသော ဝန်ချတောင်းပန်ရန် နည်းပင်ဖြစ်ပေသည်။

အမှန်စင်စစ် အလ္လာဟ် အရှင်မြတ်သည်၊ အကြွင်းမဲ့ သိတော်မူသော အရှင်၊ ကျိုးကြောင်းဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင်ဖြစ်တော်မူသည်။

وَمَن يَقْتُلْ مُؤْمِنًا مُّتَعَمِّدًا فَجَزَآؤُهُ
جَهَنَّمُ خَالِدًا فِيهَا وَغَضِبَ

၉၃။ သို့ရာတွင် အကြင်သူသည် မွတ်စ်လင်မ်တဦးတယောက်ကို တမင်သက်သက် ကြံစည် သတ်ဖြတ်ခဲ့ပါမူ ထိုသူ၏အပြစ်သည် 'ဂျဟန္နမ်' ငရဲဘုံပင်ဖြစ်သည်။

---

➤➤ ကာဖိရ်များ ဖြစ်ကြ၏။ ကာဖိရ်သည် မွတ်စ်လင်မ်၏အမွေကို ဆက်ခံနိုင်ခွင့်မရှိပေ။ ၎င်းပြင် 'ဒါရုလ်ဟရ်ဗ်' မှ ဒါရုလ်အစ္စလာမ်သို့ အမွေပစ္စည်းများကို ယူဆောင်လာရသည်လည်းမရှိချေ။ (ထာနဝီ)

(၁) လူသတ်မှုနှင့် စပ်လျဉ်း၍ ကျွန်ကို သူကောင်းပြုရန် တာဝန်ရှိသူတစ်ဦးသည် ကျွန်ကို သူကောင်းပြုရန် စရိတ်စက မတတ်နိုင်ခဲ့သည် ရှိသော်ငြား၊ သို့မဟုတ် ကျွန်မရရှိနိုင်သော်ငြား၊ နှစ်လတိတိ အဆက်မပြတ် ဆွမ်ယာမ်ဥပုသ်ဆောက်တည်ရမည်။ ယင်းသို့ နှစ်လတိတိ ဥပုသ်ဆောက်တည်ရာတွင် အစ္စလာမ်တရားတော်က ခွင့်ပြုထားသော အကြောင်းတစ်စုံတစ်ရာ မရှိဘဲလျက် ဥပုသ်တစ်ရက်မျှပင် ပျက်ကွက်ခြင်း မရှိစေရ။ အကြောင်းမဲ့တစ်ရက် ပျက်ကွက်သည်ရှိသော် ဆွမ်ယာမ် ဥပုသ်ကို နှစ်လတိတိ အစမှအဆုံးတိုင် ပြန်လည် ဆောက်တည်ရပေမည်။ (မာဂျိဒီ)

اللّٰهُ عَلَيْهِ وَلَعَنَهٗ وَاَعَدَّ لَهٗ عَذَابًا عَظِيْمًا ﴿٩٣﴾

(ထိုသူသည်) ယင်း 'ဂျဟန္နမ်' ငရဲဘုံ၌ အစဉ် အမြဲလားရမည်။ ထိုမှတပါးတုံ အလ္လာဟ် အရှင် မြတ်သည် ၎င်း၏အပေါ်၌ အမျက်တော် ထား တော်မူအံ့။ ထိုသူအား ကရုဏာတော်မှလည်း ကင်း ဝေးစေတော် မူအံ့။ ထိုသူ၏ အဘို့ ကြီးလေးသော ပြစ်ဒဏ်တော်ကိုလည်း အဆင်သင့် ပြုထားတော် မူလတ္တံ့။ [၁]

يٰۤاَيُّهَا الَّذِيْنَ اٰمَنُوْۤا اِذَا ضَرَبْتُمْ فِىْ سَبِيْلِ اللّٰهِ فَتَبَيَّنُوْا وَلَا تَقُوْلُوْا لِمَنْ اَلْقٰۤى اِلَيْكُمُ السَّلٰمَ لَسْتَ مُؤْمِنًا ۚ تَبْتَغُوْنَ عَرَضَ الْحَيٰوةِ الدُّنْيَا ۖ فَعِنْدَ اللّٰهِ مَغَانِمُ كَثِيْرَةٌ ۚ كَذٰلِكَ كُنْتُمْ مِّنْ قَبْلُ فَمَنَّ اللّٰهُ عَلَيْكُمْ فَتَبَيَّنُوْا ۚ اِنَّ اللّٰهَ كَانَ بِمَا

၉၄။ အို- 'မုအ်မင်န်' အပေါင်းတို့၊ အသင်တို့ သည် အလ္လာဟ် အရှင်မြတ်၏ လမ်းတော်၌ (စစ် မက် ပြိုင်ဆိုင် တိုက်ခိုက်ခြင်းငှာ) ခရီးထွက်ကြ သော အခါ (ရန်သူနှင့် မိတ်ဆွေကို ခွဲခြား၍သိသာ ရန်) စီစစ်ရှာဖွေ စုံစမ်းကြလေကုန်။ ၎င်းပြင် အသင် တို့သည် မိမိတို့အား 'စလာမ်' (မေတ္တာ) ပို့သ(က မိမိကိုယ်ကို မွတ်စ်လင်မ် ဖြစ်ကြောင်း ထင်ရှားစေ) သော သူကို အသင်သည် 'မုအ်မင်န်' မဟုတ်ဟု မပြောကြ ကုန်လင့်၊ အသင်တို့သည် လောကီ ဥစ္စာ ပစ္စည်း စည်းစိမ်များကို ရှာဖွေကြ၏။ သို့ဖြစ်လျှင် အလ္လာဟ် အရှင်မြတ် အထံတော်၌ (တရားသဖြင့် သုံးစွဲနိုင်သော) လက်ရ ပစ္စည်းများသည် ပေါများစွာ ရှိကုန်၏။

---

(၁) မွတ်စ်လင်မ်တဦးသည် အခြား မွတ်စ်လင်မ်တဦးအား မွတ်စ်လင်မ် ဖြစ်ကြောင်း သိပါလျက်နှင့် သေစေရန် ရည်စူး၍ ကျူးလွန် သတ်ဖြတ်ခဲ့သည်ရှိသော် ထိုသူသည် ပစ္စုပ္ပန်လောက၌ ကုရ်အာန် ကျမ်း လာ မုက္ခပါဌ်တော် (၂း၁၇၈)အရ သတ်စားသတ်ခြင်း ခံရပေမည်။ နောင်တမလွန် ဘဝတွင်လည်း ထိုသူ၏ လားရာဌာနမှာ ဂျဟန္နမ် ငရဲဘုံဖြစ်သည်။

ထိုသူသည် ထိုငရဲဘုံတွင် အမြဲထာဝစဉ် လားရပေမည်။ အလ္လာဟ် အရှင်မြတ်၏ အမျက်တော် စူးရှခြင်းကိုလည်း ခံရပေမည်။ ကရုဏာတော်နှင့် ကင်းဝေးရပေမည်။ ကြီးလေးသော ပြစ်ဒဏ်ကိုလည်း ခံရပေမည်။

تَعۡمَلُونَ خَبِيرًا ﴿٩٤﴾

အသင်တို့သည်လည်း ယခင်မူလက ထိုကဲ့သို့ပင် (မိမိတို့ မွတ်စ်လင်မ်ဖြစ်ကြောင်းနှင့် ပတ်သက်၍ နှုတ်ဖြင့် ကလိမဟ် ရွတ်ဖက်ခြင်းကိုပင် အမှီသဟဲပြုကြရသူများ) ဖြစ်ခဲ့ကြ၏။ ထို့နောက် အလ္လာဟ် အရှင်မြတ်သည် အသင်တို့အပေါ်၌ ကျေးဇူးပြုတော်မူခဲ့လေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် စီစစ်ရှာဖွေစုံစမ်းကြလေကုန်။

ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် အသင်တို့ ပြုမူကြကုန်သော အမှုကိစ္စတို့ကို အကြွင်းမဲ့ ကြားသိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

لَا يَسۡتَوِي ٱلۡقَٰعِدُونَ مِنَ ٱلۡمُؤۡمِنِينَ غَيۡرُ أُوْلِي ٱلضَّرَرِ وَٱلۡمُجَٰهِدُونَ فِي سَبِيلِ ٱللَّهِ بِأَمۡوَٰلِهِمۡ وَأَنفُسِهِمۡۚ فَضَّلَ ٱللَّهُ ٱلۡمُجَٰهِدِينَ بِأَمۡوَٰلِهِمۡ وَأَنفُسِهِمۡ عَلَى ٱلۡقَٰعِدِينَ دَرَجَةٗۚ وَكُلّٗا وَعَدَ ٱللَّهُ ٱلۡحُسۡنَىٰۚ وَفَضَّلَ ٱللَّهُ

၉၅။ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အနက်မှ (ချည့်နဲ့ကျိုးကန်း မစွမ်းမသန်သော) ဒုက္ခိတများ [၁] မဟုတ်ဘဲ (မိမိတို့အိမ်တွင်းဝယ်) ထိုင်၍နေသောသူတို့နှင့် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ မိမိတို့၏ အသက်စည်းစိမ်တို့ဖြင့် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်သောသူတို့သည် တူညီကြသည်မဟုတ်ပေ။

အလ္လာဟ် အရှင်မြတ်သည် မိမိတို့၏ အသက်စည်းစိမ်တို့ဖြင့် စစ်မက်ပြိုင်ဆိုင် တိုက်ကြကုန်သောသူတို့အား (မိမိတို့အိမ်တွင်းဝယ်) ထိုင်၍နေကြကုန်သောသူတို့ထက် ဂုဏ်ရည် အဆင့်အတန်းအားဖြင့် မြင့်မြတ်စေတော်မူခဲ့လေသည်။

---

(၁) 'အိုလိဝဒ်ဒ်ရ်'၏ မူရင်းအဓိပ္ပါယ်မှာချို့ယွင်း၊ချို့တဲ့သောသူများ ဒုက္ခိတများဟူ၍ဖြစ်သည်။ဤပုဒ်တွင် မျက်စိမမြင်ခြင်း၊ ခြေလက်မစွမ်းမသန်ခြင်း၊ ရောဂါစွဲကပ်ခြင်း လက်နက်ကရိယာမစုံလင်ခြင်း စသည့် အကြောင်းတစုံတရာကြောင့် ဂျိဟာဒ်တွင် မပါဝင်နိုင်သူအားလုံး အကျုံးဝင်ပေသည်။ (ရှု-ကဗီရ်။)

الْمُجٰهِدِيْنَ عَلَى الْقٰعِدِيْنَ اَجْرًا عَظِيْمًا ﴿٩٥﴾

အမှန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် (ထိုင်၍နေသူများနှင့် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်သူများ) အားလုံးတို့ကို ကောင်းကျိုး ပေးသနားတော်မူမည် ဟု ပဋိညာဉ် ထားရှိတော်မူပြီးဖြစ်၏။ [၁]

သို့ရာတွင် အလ္လာဟ် အရှင်မြတ်သည် စစ်မက် ပြိုင်ဆိုင် တိုက်ခိုက်သောသူတို့အား (မိမိတို့ အိမ်တွင်း၌ အငြိမ်း) ထိုင်၍နေသော သူတို့ထက် ကြီးကျယ်သော အကျိုးကျေးဇူး (ချီးမြှင့်တော်မူခြင်း) အားဖြင့် မြင့်မြတ်စေတော်မူခဲ့လေပြီ။ [၂]

دَرَجٰتٍ مِّنْهُ وَمَغْفِرَةً وَّرَحْمَةً ۗ وَكَانَ اللّٰهُ غَفُوْرًا رَّحِيْمًا ﴿٩٦﴾

၉၆။ အလ္လာဟ် အရှင်မြတ်အထံတော်မှ ဂုဏ်ရည် အဆင့်အတန်း အမျိုးမျိုးတို့ကို ချီးမြှင့်ပေးသနားတော်မူခြင်းအားဖြင့်၎င်း၊ အပြစ်များမှ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော် မူခြင်းအားဖြင့်၎င်း၊ ကရုဏာပြုတော် မူခြင်းအားဖြင့်၎င်း၊ (ထိုသူတို့အား မြင့်မြတ်စေတော်မူခဲ့လေပြီ၊) အမှန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် အကြိမ်ကြိမ် လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသော အရှင်၊ အစဉ်အမြဲ သနားကြင်နာညှာတာတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) 'အလ္လာဟ်အရှင်မြတ်သည် အားလုံးတို့ကို ကောင်းကျိုးပေးရန် ကတိပြုထားတော်မူသည်'။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် ဂျိဟာဒ်တွင် ပါဝင်သော သူများတို့အား ယင်းသူတို့၏ သက်စွန့် ကြိုးပမ်းမှုကို အကြောင်းပြု၍၎င်း၊ ဂျိဟာဒ်တွင် မပါဝင်သူတို့အား အခြားသော ကောင်းမှုများကို အကြောင်းပြု၍၎င်း ကောင်းကျိုး ပေးသနားတော်မူမည်ဟုလို။ (မာဂျိဒီ)

'အလ်ဟုစ်နာ' ဟူသည် 'ဂျန္နတ်' ကိုဆိုလိုသည်။ ရှု- အလ်မနာရ်၊ထာနဝီ

(၂) ဤမုက္ခပါဌ်တော်သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ 'ဂျိဟာဒ်' စစ်ပွဲတွင် ပါဝင်ကြိုးပမ်းသော 'မုဂျာဟိဒ်'များနှင့် ထိုဂျိဟာဒ်စစ်ပွဲတွင် မပါဝင်ဘဲထိုင်နေသော 'ကာအိဒ်'များကို ရည်ညွှန်း၍ မိန့်ဆိုထားတော်မူသော မုက္ခပါဌ်တော်ပင်ဖြစ်သည်။ သို့ရာတွင် ဂျိဟာဒ်ဟူသော စကားကို စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်း အနက်အဓိပ္ပါယ်၌သာလျှင် ယူဆသုံးနှုန်းခြင်းမပြုအပ်ပေ။ အဘယ်ကြောင့်ဆိုသော် ထိုဂျိဟာဒ်ဟူသော ➤➤

إِنَّ الَّذِينَ تَوَفَّىٰهُمُ
الْمَلَٰٓئِكَةُ ظَالِمِىٓ
أَنفُسِهِمْ قَالُوا فِيمَ
كُنتُمْ ۖ قَالُوا كُنَّا
مُسْتَضْعَفِينَ فِى الْأَرْضِ ۚ
قَالُوٓا أَلَمْ تَكُنْ أَرْضُ اللَّهِ
وَاسِعَةً فَتُهَاجِرُوا فِيهَا ۚ
فَأُولَٰٓئِكَ مَأْوَىٰهُمْ
جَهَنَّمُ ۖ وَسَآءَتْ
مَصِيرًا ﴿٩٧﴾

၉၇။ ဧကန်စင်စစ် အကြင်သူတို့သည် မိမိတို့ကိုယ်ကို နှိပ်စက်နေကြစဉ် 'မလာအိကဟ်' ကောင်းကင်တမန်တို့သည် ထိုသူတို့၏ အသက် ဇီဝိန်ကို နှုတ်ခဲ့ ကြကုန်အံ့။ (ထိုကဲ့သို့သော သူတို့အား) ယင်း'မလာအိကဟ်' ကောင်းကင်တမန်တော်တို့က (ဤသို့) စစ်ဆေးမေးမြန်းကြကုန်အံ့။ 'အသင်တို့သည် မည်သည့်ကိစ္စမျိုး၌ ပါဝင်ဆောင်ရွက်ခဲ့ကြသနည်း'။ မည်သည့်အဖြစ်မျိုး၌ ရှိခဲ့ကြသနည်း။ (ထိုအခါ) ၎င်းတို့က (ဤသို့) ဖြေကြားကြလတ္တံ့။ 'ကျွန်တော်များသည် (ထို) တိုင်းပြည်ဒေသ၌ ဖိနှိပ်ချုပ်ချယ်မှု ခံနေရသူများဖြစ်ခဲ့ကြပါ၏'။

(တဖန်) ထို'မလာအိကဟ်' ကောင်းကင်တမန်တို့က (ဤသို့) ပြန်ပြောကြကုန်အံ့။ (အသင်တို့ ရွှေ့ပြောင်းနေထိုင်ကြရန် အလို့ငှာ) အလ္လာဟ်အရှင်မြတ်၏ ပထဝီမြေပြင်သည် ကျယ်ဝန်းစွာ ရှိသည် မဟုတ်လော။ သို့ဖြစ်ရာ အသင်တို့သည် ထိုပထဝီမြေပြင်ဝယ် ရွှေ့ပြောင်း (နေထိုင်) နိုင်ကြ၏။

သို့(ရွှေ့ပြောင်း နေထိုင်နိုင်ကြပါလျက် ရွှေ့ပြောင်းနေထိုင်ခြင်း မပြုကြသည့်) အတွက်ကြောင့် ထိုကဲ့သို့သော သူတို့၏ဌာနသည် 'ဂျဟန္နမ်' ငရဲဘုံပင် ဖြစ်၏။ အမှန်သော်ကား ထို ဂျဟန္နမ်ငရဲဘုံသည် အလွန်ဆိုးဝါးလှသောနေရာထိုင်ခင်းပင်ဖြစ်ချေသတည်း။

---

➤➤ စကားတွင် အစ္စလာမ်သာသနာရေးအတွက် ကြိုးပမ်းမှု တွေးတောမှုအားလုံးသည် အကျိုးဝင်လျှက် ရှိခြင်းကြောင့်ဖြစ်သည်။ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းသည်လည်း သာသနာရေးကြိုးပမ်းမှုများတွင် တခုမှုချ အပါအဝင်ဖြစ်ပေသည်။ ထို့အတူ 'ကုအူဒ်' ထိုင်နေခြင်းဟူသော စကားတွင် သာသနာရေးနှင့် စပ်လျဉ်း၍ စိတ်မဝင်စားမှု၊ ပျင်းရိမှုအားလုံး အကျုံးဝင်လျှက်ရှိ၏။ ထိုပျင်းရိမှုများတွင် သာသနာရေးစစ်ပွဲမှ ထိုင်နေခြင်းလည်း တခုအပါအဝင် ဖြစ်ပေသည်။ သို့ဖြစ်ပေရာ ဤမုကဒ္ဒပါဌ်တော်အရ သာသနာရေးတွင် ကြိုးပမ်းဆောင်ရွက်သော သူသည် မကြိုးပမ်းမဆောင်ရွက်ဘဲ ထိုင်နေသူထက်သာလွန်မြင့်မြတ်သည်မှာ မုချပင်တည်း။ (မာဂျိဒီ)

إِلَّا ٱلْمُسْتَضْعَفِينَ مِنَ
ٱلرِّجَالِ وَٱلنِّسَآءِ وَٱلْوِلْدَٰنِ
لَا يَسْتَطِيعُونَ حِيلَةً
وَلَا يَهْتَدُونَ سَبِيلًا ﴿٩٨﴾

**၉၈**။ သို့ရာတွင် အင်အားချည့်နဲ့ မစွမ်းမသန်သော အကြင်ယောကျာ်း၊ မိန်းမ၊ ကလေးသူငယ်တို့သည် (ဟစ်ဂျ်ရတ် ပြုလုပ်ရန်အတွက်) မည်သည့် အကြံအစည်ကိုမျှ မတတ်စွမ်းနိုင်ကြအံ့။ ၎င်းပြင် မည်သည့် လမ်းကိုမျှလည်း မတွေ့ရှိကြအံ့။

فَأُو۟لَٰٓئِكَ عَسَى ٱللَّهُ أَن
يَعْفُوَ عَنْهُمْ ۚ وَكَانَ ٱللَّهُ
عَفُوًّا غَفُورًا ﴿٩٩﴾

**၉၉**။ ယင်းသို့ဖြစ်လျှင် အလ္လာဟ် အရှင်မြတ်သည် ထိုကဲ့သို့သောသူတို့အား မကြာမြင့်မီ ခွင့်လွှတ်တော်မူပေမည်။ စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည် အလွန်တရာမျှ ခွင့်လွှတ်တော်မူသောအရှင်၊ အလွန်တရာမျှ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَمَن يُهَاجِرْ فِى سَبِيلِ
ٱللَّهِ يَجِدْ فِى ٱلْأَرْضِ
مُرَٰغَمًا كَثِيرًا وَسَعَةً ۚ
وَمَن يَخْرُجْ مِنۢ بَيْتِهِۦ
مُهَاجِرًا إِلَى ٱللَّهِ وَرَسُولِهِۦ
ثُمَّ يُدْرِكْهُ ٱلْمَوْتُ
فَقَدْ وَقَعَ أَجْرُهُۥ عَلَى ٱللَّهِ ۗ
وَكَانَ ٱللَّهُ غَفُورًا
رَّحِيمًا ﴿١٠٠﴾

**၁၀၀**။ ၎င်းပြင် အကြင်သူသည် အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ 'ဟစ်ဂျ်ရတ်' တနေရာမှ တနေရာသို့ ရွှေ့ပြောင်းခြင်းကိုပြုအံ့။ ထိုသူသည် ကမ္ဘာမြေပြင်ဝယ် (ခိုလှုံရာ) နေရာများစွာကိုလည်းကောင်း၊ (ဘာသာသာသနာရေးအတွက်) ကျယ်ဝန်း(လွတ်လပ်)မှုကိုလည်းကောင်း၊ တွေ့ရှိပေအံ့။

စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ် (နှစ်သက်တော်မူသောနေရာ) ကို ရည်ရွယ်၍၎င်း၊ ထိုအရှင်မြတ်၏ ရသူလ်တမန်တော်မြတ် (အား ကူညီခြင်း)ကို ရည်ရွယ်၍၎င်း၊ မိမိအိမ်မှ 'မုဟာဂျစ်ရ်' တနေရာမှ တနေရာသို့ ရွှေ့ပြောင်းသူ အဖြစ် ထွက်ခဲ့ပြီးနောက် (လမ်းခရီး၌ပင်) ထိုသူ၌ 'မရဏ' သေခြင်းတရား ဆိုက်ရောက်လာ(သဖြင့် သေဆုံး)ခဲ့မူ၊ မုချဧကန် ထိုသူ၏အကျိုးသည် အလ္လာဟ်အရှင်မြတ် အပေါ်၌ အတည်ဖြစ်ချေပြီ။

အမှန်သော်ကား အလ္လာဟ် အရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။ ၁

وَإِذَا ضَرَبْتُمْ فِي الْأَرْضِ فَلَيْسَ عَلَيْكُمْ جُنَاحٌ أَنْ تَقْصُرُوا مِنَ الصَّلٰوةِ ۖ إِنْ خِفْتُمْ أَنْ يَفْتِنَكُمُ الَّذِينَ كَفَرُوا ۚ إِنَّ الْكٰفِرِينَ كَانُوا لَكُمْ عَدُوًّا مُّبِينًا ﴿١٠١﴾

**၁၀၁။** ၎င်းပြင် အကြင်အခါဝယ်၊ အသင်တို့သည် ကမ္ဘာမြေပြင်ဝယ် ခရီးထွက်ခဲ့ကြကုန်၏။ ထိုအခါဝယ် အသင်တို့သည် အကယ်၍ မိမိတို့အား ကာဖိရ် မယုံမကြည် သွေဖည်ငြင်းပယ်သောသူတို့က ဒုက္ခပေးကြမည်ကို စိုးရိမ်ကြသည်ရှိသော်၊ အသင်တို့၌ 'ဆွလာတ်' *ဝတ်ပြုမှုကိုလျှော့၍ပြုခြင်းအားဖြင့်* ၂ အပြစ်တစုံတရာမျှ မရှိချေ။

ဧကန်စင်စစ် ကာဖိရ် မယုံမကြည်သွေဖည်ငြင်းပယ်သောသူတို့ကား အသင်တို့၏ ထင်ရှားစွာသော ရန်သူများပင် ဖြစ်ကြကုန်သတည်း။

---

(၁) အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ဟိဂျ်ရတ်ပြုလုပ်ခြင်းသည် အရေးကြီးသည့်အကြောင်းကို အထက်တွင် ရေးသားခဲ့ပေပြီ။ အစ္စလာမ်သာသနာရေး ပညာကို ဆည်းပူးရန်အတွက် ခရီးထွက်ခြင်း၊ ဟဂျ်ပြုလုပ်ရန်အတွက် ခရီးထွက်ခြင်း၊ 'ဂျိဟာဒ်' အတွက် ခရီးထွက်ခြင်း၊ သာသနာရေးကိစ္စများကို ပိုမို လိုက်နာဆောင်ရွက်နိုင်ရန် အတွက်သော်၎င်း၊ ပစ္စုပ္ပန်လောကတွင် ပိုမိုဖူလုံရန်အတွက်သော်၎င်း၊ သူတော်ကောင်းတရား ပိုမို ပွားများနိုင်ရန် အတွက်သော်၎င်း၊ သမ္မာအာဇီဝနည်းဖြင့် စားနပ်ရိက္ခာကို ရှာဖွေဆည်းပူးနိုင်ရန် အတွက်သော်၎င်း၊ တိုင်းတပါးသို့ ရွှေ့ပြောင်းနေထိုင်ခြင်း များသည်လည်း ဟိဂျ်ရတ်ဟူသော စကားတွင် အကျုံးဝင်ပေသည်။

(၂) ခရီးတွင် 'ဆွလာတ်' ကိုလျှော့၍ပြုရသည် ။ ဤသို့လျှော့၍ပြုခြင်းကို 'ကာဆွ်ရ်' ဟုခေါ်သည်။ 'ကာဆွ်ရ်' သည် 'ဝါဂျိဗ်' တာဝန်ဖြစ်သည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ သိသင့်သိအပ်သော အချို့အချက်အလက်များကို ရေးသားဖော်ပြလိုပေသည်။-

က။ 'မန်ဇိလ်' ခေါ် ခရီး စခန်းသုံးခုထက်နည်းသော ခရီးများတွင် 'ကာဆွ်ရ်' မပြုပိုင်ချေ။ ဆွလာတ်ကို အပြည့်ပြုရ၏။ (မန်ဇစ်လ် ၁-စခန်းသည် ခရီး (၁၆) မိုင်ကိုဆိုသည်။)

ခ။ ခရီးထွက်၍ မိမိလိုရာ စားခန်းသို့ ရောက်သောအခါ အကယ်၍ ၁၅-ရက်ထက်လျှော့ ရပ်နားရန် ရည်ရွယ်ပါက ဆွလာတ်ကို အပြည့်ပြုရပေမည်။ ကာဆွ်ရ် မပြုရချေ။

ဂ။ 'ကာဆွ်ရ်' သည် 'ဇုဟ်ရ်'၊ 'အဆွ်ရ်'၊ 'အိရှာ' ဖရ်သွ် ဆွလာတ်များ တွင်သာ ပြုရ၏။ အဆိုပါ ဆွလာတ်သုံးရပ်တွင် ဖရ်သွ် ၄-'ရာက်အတ်' အစား နှစ် 'ရာက်အတ်' သာ ➤➤

وَإِذَا كُنتَ فِيهِمْ فَأَقَمْتَ لَهُمُ الصَّلَوٰةَ فَلْتَقُمْ طَآئِفَةٌ مِّنْهُم مَّعَكَ وَلْيَأْخُذُوٓا أَسْلِحَتَهُمْ فَإِذَا سَجَدُوا

၁၀၂။ ၎င်းပြင် (အို–နဗီတမန်တော်) အကြင်အခါ ဝယ် အသင်သည် ထိုသူတို့အထဲတွင် ရှိနေ၍ ထိုသူတို့ အဘို့ 'ဆွလာတ်' ဝတ်ပြုမှုကို စီစဉ်ခဲ့ပါလျှင်၊ ထိုအခါ ၎င်းတို့အနက်မှ လူတစ်စုသည် (အသင်၏နောက်မှ 'ဆွလာတ်' ဝတ်ပြုကြရန်) အသင်နှင့်အတူ ရပ်ကြရ ပေမည်။ ၎င်းပြင် ထိုသူတို့သည် မိမိတို့၏လက်နက် များကိုလည်း ယူဆောင်ထားကြရပေမည်။

➤➤ ပြုရ၏။ မဃ်ရစ်ဗ်၊ ဖဂျရ်ဆွလာတ်များနှင့် ဗွန္နတ်၊ ဝိတ်ရ်ဆွလာတ်များတွင် ကာဆွ်ရ်မရှိချေ။(ထာနဝီ)

ဃ။ ခရီးသွားလာစဉ် ရန်သူတို့၏ အနှောက်အယှက်မှ စိုးရိမ်ကြောင့်ကြမှု မရှိသော်လည်း 'ကာဆွ်ရ်' ပြုလုပ်ရ၏။ ဤကား 'ဥလမာအ်' ခေါ် မွတ်စ်လင်မ်အများစုကြီး၏ ယူဆချက် တည်း။ ကုရ်အာန်ကျမ်းမြတ်တွင် 'အကယ်၍အသင်တို့အား ကာဖိရ်များက ဒုက္ခပေးကြမည်ကို စိုးရိမ်ကြသော်' ဟူ၍ ကန့်သတ်ချက်ဖြင့် မိန့်ဆိုထားခြင်းမှာ ကုရ်အာန်ကျမ်းမြတ် ကျရောက်စဉ် ပတ်ဝန်းကျင် အခြေအနေကို ထောက်ထား၍ မိန့်ဆိုထားခြင်းသာ ဖြစ်သည်။ တမန်တော် မြတ်၏ ဩဝါဒတော်များတွင် ခရီး၌ စိုးရိမ်မှုရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ ကာဆွ်ရ် ပြုလုပ်ရမည့် အကြောင်း အတိအကျ တွေ့ရှိရပေသည်။ (ထာနဝီ)

တမန်တော်မြတ်သည် စိုးရိမ်မှုကင်းသော ခရီးများတွင်လည်း ကာဆွ်ရ်ပြုတော်မူခဲ့၏။ သာဝကကြီးများ ကိုလည်း ကာဆွ်ရ်ပြုရန် လေးနက်စွာ မိန့်ကြားတော်မူခဲ့၏။ ယခုမူ ခရီးတွင် စိုးရိမ်မှုရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ၊ အမြဲတန်းအတွက် ကာဆွ်ရ်ပြုရန်အမိန့်ကား အတည်ဖြစ်ချေပြီ၊ ဤကားအလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်တည်း။

**သာဓကသဘော။**

ယအ်လာ အီဗ်နုအမိုင်ယဟ် သခင်ထံမှတဆင့်ကြားသိရသည်မှာ ထိုသခင်က ကျွန်ုပ်သည် သာဝကကြီး အုမရ်အား (ကုရ်အာန်ကျမ်းမြတ်တွင်) အကယ်၍ အသင်တို့စိုးရိမ်ကြလျှင် အသင်တို့ဆွလာတ်ကို လျှော့၍ ဝတ်ပြုခြင်းသည် အသင်တို့အပေါ်၌ တစ်စုံတစ်ရာအပြစ်မရှိချေဟု ပါရှိ၏။ ယခုမူလူများသည် အေးချမ်းစွာရှိကြ၏။ (အေးချမ်းနေသည့် အခါမျိုးတွင် ကာဆွ်ရ်ပြုလုပ်ခြင်းမှာ အံ့ဘွယ်ပင်ဖြစ်၏။) ထိုအခါ သာဝကကြီးအုမရ်က အသင်အံ့ဩသကဲ့သို့ ကျွန်ုပ်လည်းအံ့ဩမိခဲ့၏။ နောက်ဆုံးတွင်ကျွန်ုပ်သည် ဤအကြောင်းနှင့် စပ်လျဉ်း၍ တမန်တော်မြတ်အား မေးမြန်းသည့်အခါ တမန်တော်မြတ်က ဤကား အလ္လာဟ်အရှင်မြတ်က အသင်တို့အားပြုတော်မူသော အလှူဒါနတစ်ရပ်ပင်ဖြစ်ချေသည်။ သို့ဖြစ်ရာ အသင်တို့သည် ထိုအရှင်မြတ်၏ အလှူကို လက်ခံသဘောတူကြကုန်ဟု မိန့်ကြားတော်မူလေသည်။ (အီဗ်နုဂျရီရ်)

င။ ရေကြောင်း ခရီးတွင်လည်း ကုန်းကြောင်း ခရီးကဲ့သို့ပင် ဆွလာတ် ဝတ်ပြုရာ၌ 'ကာဆွ်ရ်' ပြုရ၏။ (ထာနဝီ)

'ကာဆွ်ရ်' နှင့် စပ်လျဉ်း၍ အသေးစိတ် အချက်အလက်များကို 'ဟိဒါယဟ်' အစရှိသည့် 'ဖစ်က်ဟ်' ဓမ္မသတ်ကျမ်းကြီးများတွင် အကျယ်တဝင့် တွေ့ရှိနိုင်ပေသည်။

فَلْيَكُونُوا مِن وَرَآئِكُمْ
وَلْتَأْتِ طَآئِفَةٌ أُخْرَىٰ
لَمْ يُصَلُّوا فَلْيُصَلُّوا مَعَكَ
وَلْيَأْخُذُوا حِذْرَهُمْ
وَأَسْلِحَتَهُمْ ۗ وَدَّ الَّذِينَ
كَفَرُوا لَوْ تَغْفُلُونَ عَنْ
أَسْلِحَتِكُمْ وَأَمْتِعَتِكُمْ
فَيَمِيلُونَ عَلَيْكُم مَّيْلَةً
وَاحِدَةً ۚ وَلَا جُنَاحَ عَلَيْكُمْ

တဖန် ယင်းသူတို့သည် (အသင်နှင့်အတူ) 'စဂျ်ဒဟ်' ပျပ်ဝပ် ဦးချပြီးကြသောအခါ အသင်တို့၏ နောက်သို့ ဆုတ်သွားကြရပေမည်။ ထို့နောက် 'ဆွလာတ်' ဝတ်မပြုကြရသေးသော အခြားသူတစု သည် လာပြီးလျှင်၊ အသင်နှင့်အတူ 'ဆွလာတ်' ဝတ်ပြုကြရပေမည်။ [၁] ထို့ပြင် ၎င်းတို့သည်လည်း မိမိတို့၏ဘေးရန်ကို ကာကွယ်မည့် ပစ္စည်းများနှင့် လက်နက်များကို ယူဆောင်ထား ကြရပေမည်။ (အကြောင်းသော်ကား) 'ကာဖိရ်' မယုံမကြည် သွေဖည် ငြင်းပယ်သော သူတို့က အကယ်၍သာ အသင် တို့သည် မိမိတို့၏ လက်နက်များနှင့် အသုံး အဆောင် ပစ္စည်းများကို မေ့လျော့သွားကြသော် ၎င်းတို့သည် အသင်တို့အား တဟုန်တည်း ဝင်ရောက် တိုက်ခိုက်ရန် နှစ်သက်လိုလား ကြ(သောကြောင့် ဖြစ်)ပေသည်။

---

(၁) **ဖော်ပြချက်**

ကုရ်အာန်ကျမ်းမြတ် (၄း၁၀၂) တွင် စစ်မြေပြင်၌ ရန်သူတို့၏ တိုက်ခိုက်မှုကို စိုးရိမ်နေရသော အခါမျိုးတွင် ဂျမာအတ်နှင့် ဆွလာတ်ဝတ်ပြုနည်းကို မိန့်ဆိုထားတော်မူသည်။ ထိုသို့သော ဆွလာတ်ကို ဆွလာတ်တုလ်ခေါက်ဖ် ဟုခေါ်သည်။ ဆွလာတုလ်ခေါက်ဖ်သည် တမန်တော်မြတ် ကွယ်လွန် အနိစ္စရောက်ပြီးသည့် နောက်ပိုင်းတွင်လည်း တည်ရှိခဲ့၏။ ကိယာမတ်နေ့တိုင် တည်ရှိမည်လည်း ဖြစ်၏။ ဤကား ဣဂျ်မာအ်တည်း။

ဤမုကဒ္ဒပါဠ်တော်တွင် ပါရှိသော 'ကွန်တ' ဟူသောပုဒ်သည် တုံမှယောဂဓေဝုစ်ကိန်းဖြစ်၏။ တမန်တော်မြတ်အား ရည်ညွှန်း၏။ သို့ရာတွင် ယင်းပုဒ်တွင် 'အမီရ်' အကြီးအကဲ အားလုံးတို့သည် အကျုံး ဝင်ပေသည်။ ရှု-ကုရ်တုဗီ။

ဤမုကဒ္ဒပါဠ်တော်တွင်ပါရှိသည့် ဆွလာတုလ်ခေါက်ဖ် ဝတ်ပြုနည်းမှာ အီမာမ်ရှေ့ဆောင် တဦးတည်း၏ နောက်တွင် လူအားလုံး ဝတ်ပြုကြလိုသောအခါ၌သာ ဖြစ်၏။ အကယ်၍ လူများသည် နှစ်စု (သုံးစု) ခွဲ၍ အီမာမ်ရှေ့ဆောင် နှစ်ဦး (သုံးဦး)၏ နောက်တွင် တခြားစီဝတ်ပြုလိုကလည်း ဝတ်ပြုနိုင် ကြပေသည်။ ရှု-ထာနဝီ၊ ဒုရ်ရီမုခ်တာရ်။

ဤမုကဒ္ဒပါဠ်တော်တွင် ပါရှိသည့်အတိုင်း ဆွလာတုလ်ခေါက်ဖ်ကို အီမာမ်နှင့် တကွ စံနစ်တကျ ဝတ်ပြုရန် တာဝန်သည် အစီအစဉ်ဖြစ်နိုင်သော အခြေအနေမျိုးတွင်သာလျှင် ဖြစ်၏၊ အစီအစဉ်မဖြစ်နိုင်က ဂျမာအတ်နှင့်ဆွလာတ်ဝတ်ပြုရန် တာဝန်မရှိချေ။ ကုရ်အာန်ကျမ်းမြတ်(၂း၂၃၉)တွင် ပါရှိသည့်အတိုင်း ➤➤

إِنْ كَانَ بِكُمْ أَذًى مِّنْ مَّطَرٍ أَوْ كُنْتُمْ مَّرْضَىٰ أَنْ تَضَعُوْٓا أَسْلِحَتَكُمْ ۚ وَخُذُوْا حِذْرَكُمْ ۗ إِنَّ اللّٰهَ أَعَدَّ لِلْكٰفِرِيْنَ عَذَابًا مُّهِيْنًا ﴿١٠٢﴾

သို့တစေလည်း အကယ်၍သာ အသင်တို့၌ မိုးရွာသွန်းသောကြောင့် (လက်နက်များ ယူဆောင်ကာ 'ဆွလာတ်' ဝတ်ပြုကြရန်) ခဲယဉ်းမှု ရှိခဲ့မူ၊ သို့တည်းမဟုတ် အသင်တို့သည် ဝေဒနာရှင်များ ဖြစ်ခဲ့ကြပါမူ မိမိတို့၏လက်နက်များကို ချထားခြင်းကြောင့် အသင်တို့၌ အပြစ်မရှိပြီ။ သို့သော်လည်း အသင်တို့သည် မိမိတို့အဘို့ ကာကွယ်မှုကိုမူ ပြုလုပ်၍ ထားရှိကြလေကုန်။

ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် 'ကာဖိရ်' မယုံမကြည် သွေဖည်ငြင်းပယ်သော သူတို့ အဘို့ ကျိုးယုတ်ရှက်ရဖြစ်စေမည့် ပြစ်ဒဏ်ကို အရံသင့် ပြုထားတော်မူလေသတည်း။

---

➢➢ ခြေလျင်သွားလာလျက်၊ စီးနင်းလျက်ပင်လျှင် ဆွလာတ် ဝတ်ပြုနိုင်ပေသည်။ ရန်သူတို့နှင့် ရင်ဆိုင်တိုက်ခိုက်နေရသည့် အချိန်အခါမျိုးတွင် မူကား ဆွလာတ်ကိုပင် ရွှေ့ဆိုင်း၍ ပြုရ၏။ ရှု-ထာနဝီ။

ဆွလာတုလ်ခေါက်ဖ်နှင့် စပ်လျဉ်း၍ အသေးစိတ် အချက်အလက်များကို 'ဖစ်ကဟ်' ဓမ္မသတ်ကျမ်းကြီးများတွင် တွေ့ရှိနိုင်ပေသည်။

**ဖော်ပြချက်။**

မယ်ရိဗ်အချိန်တွင် 'ဆွလာတုလ်ခေါက်ဖ်' ပြုလျှင် ပဌမအုပ်စုသည် အေမာမ်နှင့်အတူ ၂-'ရက္ကအတ်' ပြုရမည်။ ဒုတိယ အုပ်စုသည် ကျန် ၁-'ရက္ကအတ်' ကိုအေမာမ်နှင့် အတူပြုရမည်။ ကြည့်-ထာနဝီ။

စိုးရိမ်မှုအခြေအနေကား နှစ်မျိုးနှစ်စားရှိ၏။ ထိုစိုးရိမ်မှု အခြေအနေနှစ်ရပ်၏ အပေါ်တွင် အမိန့်ပညတ်များသည်လည်း ခြားနား၏။

(က) ပဌမအခြေအနေကား စစ်မြေပြင်တွင် ရန်သူများနှင့် ရင်ဆိုင်တိုက်ခိုက် နေရသော အချိန်ဖြစ်၏။ ထိုအချိန်တွင် ဂျမာအတ်နှင့် ဆွလာတ်ဝတ်ပြုရန် အစီအစဉ် အလျင်း မဖြစ်နိုင်ချေ။ ထိုသို့သော အခြေအနေမျိုးတွင် ဂျမာအတ်နှင့် ဆွလာတ်ဝတ်ပြုရန် မလိုချေ။ ကုရ်အာန်ကျမ်းမြတ် (၂း ၂၃၉) တွင် ပါရှိသည့်အတိုင်း ယာဉ်ပေါ်တွင် စီးနင်းလျက်ဖြစ်စေ၊ ခြေလျင်သွားလျက်ဖြစ်စေ ဆွလာတ်ဝတ်ပြုနိုင်၏။ 'ရကူအ်၊ ညီညွတ်ခြင်း၊ 'စဂျူဒ်'၊ ဦးချခြင်းများအတွက် 'ဣရှာရဟ်' အရိပ်နိမိတ် လက္ခဏာပြခြင်းသည် လုံလောက်၏။ 'ကိဗ်လဟ်' ဘက်သို့ မျက်နှာမူရန်လည်း အရေးမကြီးတော့ချေ။

(ခ) ဒုတိယအခြေအနေကား စစ်မြေပြင်တွင်ရောက်ရှိနေသောအချိန်ဖြစ်၏။ သို့ရာတွင် တိုက်ခိုက်မှုကား မဖြစ်သေးချေ။ ဂျမာအတ်နှင့်ဆွလာတ်ဝတ်ပြုရန် အစီအစဉ်ဖြစ်နိုင်သေး၏။ ကုရ်အာန်ကျမ်း(၄း၁၀၂) တွင်ပါရှိသော 'ဆွလာတုလ်ခေါက်ဖ်' ဝတ်ပြုနည်းသည် ဤဒုတိယအခြေအနေမျိုးနှင့် သက်ဆိုင်ပေသည်။ ရှု-(မာဂျိဒီ)

فَاِذَا قَضَيۡتُمُ الصَّلٰوةَ فَاذۡكُرُوا اللّٰهَ قِيٰمًا وَّقُعُوۡدًا وَّعَلٰى جُنُوۡبِكُمۡ‌ ۚ فَاِذَا اطۡمَاۡنَنۡتُمۡ فَاَقِيۡمُوا الصَّلٰوةَ‌ ۚ اِنَّ الصَّلٰوةَ كَانَتۡ عَلَى الۡمُؤۡمِنِيۡنَ كِتٰبًا مَّوۡقُوۡتًا ﴿۱۰۳﴾

၁၀၃။ တဖန် အသင်တို့သည် 'ဆွလာတ်' ဝတ်ပြု၍ ပြီးကြသောအခါ အသင်တို့သည် အလ္လာဟ်အရှင် မြတ်ကို မတ်တတ်ရပ်လျက်ငင်း၊ ထိုင်လျက်ငင်း၊ လဲလျောင်းလျက်ငင်း၊ *အောက်မေ့တသ သတိရရှိကြ လေကုန်။* [၁] တဖန် အသင်တို့သည် ဘေးရန် ကင်းငြိမ်း၍ စိတ်ချရသောအခါ (နဂိုရ်မူလအတိုင်း စည်းကမ်း ကျနစွာဖြင့်) ဆွလာတ်ဝတ်ပြုမှုကို ဆောက် တည် ကြလေကုန်။

ဧကန်မလွဲ 'ဆွလာတ်' ဝတ်ပြုမှုသည် 'မုအ်မင်န်' တို့ အပေါ်၌ အချိန်ကာလ ပိုင်းခြား၍ အတည် သတ်မှတ် ပြဋ္ဌာန်းထားသော ဖရတ်သွ် တာဝန်တရပ်ပင် ဖြစ်ချေသတည်း။

وَلَا تَهِنُوۡا فِى ابۡتِغَآءِ الۡقَوۡمِ‌ ؕ اِنۡ تَكُوۡنُوۡا تَاۡلَمُوۡنَ فَاِنَّهُمۡ يَاۡلَمُوۡنَ كَمَا تَاۡلَمُوۡنَ‌ ۚ وَتَرۡجُوۡنَ مِنَ اللّٰهِ مَا لَا يَرۡجُوۡنَ‌ ؕ وَكَانَ اللّٰهُ عَلِيۡمًا حَكِيۡمًا ﴿۱۰۴﴾

၁၀၄။ ၎င်းပြင် အသင်တို့သည် ရန်သူတို့အား လိုက် လံ (တိုက်ခိုက်)ရာ၌ စိတ်အားမလျှော့ကြကုန်လင့်။ အကယ်၍ အသင်တို့ ဒုက္ခခံစားကြရပါလျှင် ထိုသူတို့ သည်လည်း အသင်တို့ကဲ့သို့ပင် ဒုက္ခခံစားကြရ ကုန်၏။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်ထံတော်မှ ထိုသူတို့မမျှော်လင့်သော အရာများကို မျှော်လင့်ကြ ကုန်။

၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် အရာ ခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသော အရှင်၊ ကျိုးကြောင်း ဆင်ခြင်တုံဉာဏ်နှင့် ပြည့်စုံတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူလေသတည်း။

---

(၁) အခြေအနေအရ ဆွလာတ်ဝတ်ပြုမှုတွင် လျှော့ပေါ့ခွင့်ရှိသော်လည်း အလ္လာဟ်အရှင်မြတ်အား၊ အောက်မေ့တသ သတိရမှုတွင်ကား လျှော့ပေါ့ခွင့်မရှိချေ။ စစ်မြေပြင်တွင် ရင်ဆိုင်တိုက်ခိုက်နေရသော အချိန်အခါမျိုးတွင်လည်း အလ္လာဟ်အရှင်မြတ်အား မမေ့ရပေ။ ဆိုလိုသည်ကား ထိုအရှင်မြတ်အား အခါကာလမရွေး အမြဲတစေ အောက်မေ့တသ သတိရလျက်ရှိကြရမည်သာတည်း။ (မာရိဖ်)

إِنَّآ أَنزَلْنَآ إِلَيْكَ ٱلْكِتَٰبَ بِٱلْحَقِّ لِتَحْكُمَ بَيْنَ ٱلنَّاسِ بِمَآ أَرَىٰكَ ٱللَّهُ ۚ وَلَا تَكُن لِّلْخَآئِنِينَ خَصِيمًا ﴿١٠٥﴾

**၁၀၅။** (အို-နဗီတမန်တော်) အသင်သည် လူတို့၏ စပ်ကြားဝယ် အလ္လာဟ် အရှင်မြတ်က အသင့်အား ပြသတော် မူသည့်အတိုင်း စီရင်ဆုံးဖြတ်ခြင်းငှာ၊ ငါ အရှင်မြတ်သည် အသင်၏ထံသို့ ကျမ်းမြတ် ကုရ်အာန်ကို မှန်ကန်မှုနှင့်တကွ ချပေးသနားတော် မူခဲ့၏။ ၎င်းပြင် အသင်သည် သစ္စာဖောက်လိမ်လည် လှည့်ဖြား အလွဲသုံးစားပြုသူများဘက်မှ ကာကွယ် ချေပပြောဆိုသူ မဖြစ်ပါလေနှင့်။

وَٱسْتَغْفِرِ ٱللَّهَ ۖ إِنَّ ٱللَّهَ كَانَ غَفُورًا رَّحِيمًا ﴿١٠٦﴾

**၁၀၆။** ၎င်းပြင် အသင်သည် အလ္လာဟ်အရှင်မြတ် အထံတော်၌ (အပြစ်မှ) လွတ်ငြိမ်းချမ်းသာခွင့်ကို *လျှောက်ထားပန်ကြားပါလေ၊*[၁] ဧကန်မလွဲ အလ္လာဟ် အရှင်မြတ်သည် အကြိမ်ကြိမ် လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော် မူသောအရှင်၊ အလွန် သနားကြင်နာ ညှာတာတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။

وَلَا تُجَٰدِلْ عَنِ ٱلَّذِينَ يَخْتَانُونَ أَنفُسَهُمْ ۚ إِنَّ ٱللَّهَ لَا يُحِبُّ مَن كَانَ خَوَّانًا أَثِيمًا ﴿١٠٧﴾

**၁၀၇။** ထိုမှတပါး *မိမိကိုယ်ကို လိမ်လည်လှည့်ဖြား သူတို့ဘက်မှ*[၂] အသင်သည် ပြောဆိုခြင်း မပြုလေနှင့်။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အလွန် သစ္စာမဲ့သူ၊ အလွန် ပြစ်မှုဒုစရိုက် ကျူးလွန်သူတို့ကို နှစ်သက်တော်မမူချေ။

---

(၁) ဤမုက္ခပါဠ်တော်တွင် ပါရှိသည့် လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားရန် အမိန့်တော်သည် (ဤမုက္ခပါဠ်တော်နှင့် စပ်လျဉ်း၍ အထက်တွင် ဖော်ပြပါရှိသည့် ထုတ်ပြန်ပို့ချတော်မူသည့် အကြောင်းတွင်) ခိုးမှု၏တရားခံ မုနာဖစ်က် ဗုရှိုင်ရ်နှင့် ပတ်သက်၍ သားချင်းတော်စပ်သည်ကို အကြောင်းပြုကာ ခုခံကာကွယ် ပြောဆိုသူများ အတွက် ဖြစ်ပေသည်။ ရှု-ကုရ်တုဗီ။

လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားရန် အမိန့်တော်သည် တမန်တော်မြတ်ကိုပင် ရည်ညွှန်း မိန့်ကြားတော် မူသော မုက္ခပါဠ်တော်ဖြစ်သည် ဟုလည်း ဆိုနိုင်ပေသည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်သည် ဗနူအုဗိုင်ရိက်၏ တိုင်တန်းချက်အရ မျက်မြင်အဖြစ်အပျက်နှင့် သက်သေထွက်ဆိုချက်များကို ထောက်ထား၍ သာဝကကြီးက တာဒဟ်အား အသင်သည် သက်သေသာဓကေ မရှိဘဲလျက် အဘယ်ကြောင့် မွတ်စ်လင်မ် လူကြီးလူကောင်း အိမ်ထောင်စုအား ခိုးသည်ဟု ပြောဆိုသနည်းဟု မိန့်ကြားမိခဲ့၏။ ဤမျှ ထင်မှတ် ➤➤

يَسْتَخْفُوْنَ مِنَ النَّاسِ
وَلَا يَسْتَخْفُوْنَ مِنَ اللّٰهِ
وَهُوَ مَعَهُمْ اِذْ يُبَيِّتُوْنَ
مَا لَا يَرْضٰى مِنَ الْقَوْلِ ؕ
وَكَانَ اللّٰهُ بِمَا يَعْمَلُوْنَ
مُحِيْطًا ﴿۱۰۸﴾

**၁၀၈။** ၎င်းတို့သည် လူသားတို့ကို ရှက်ကြောက်ကြကုန်၏။ သို့ရာတွင် အလ္လာဟ် အရှင်မြတ်ကိုမူ ရှက်ကြောက်ခြင်း မရှိကြချေ။ စင်စစ် ထိုအရှင်မြတ်သည် ၎င်းတို့ ညဥ့်အချိန်၌ ထိုအရှင်မြတ် မနှစ်မြို့တော်မူသောစကားများကို လျှို့ဝှက် ကြံစည်ကြစဉ်ကလည်း ၎င်းတို့နှင့်အတူ ရှိတော်မူခဲ့၏။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့ပြုမူကြကုန်သော အမှုကိစ္စ အဝဝတို့ကိုလည်း ဝန်းခြံလျက် ရှိတော်မူလေ၏။

هٰۤاَنْتُمْ هٰۤؤُلَآءِ جَادَلْتُمْ
عَنْهُمْ فِى الْحَيٰوةِ الدُّنْيَا ۫
فَمَنْ يُّجَادِلُ اللّٰهَ عَنْهُمْ
يَوْمَ الْقِيٰمَةِ اَمْ مَّنْ يَّكُوْنُ
عَلَيْهِمْ وَكِيْلًا ﴿۱۰۹﴾

**၁၀၉။** ဟယ်- (သစ္စာဖောက်တို့ကို ထောက်ခံသူအပေါင်းတို့) အသင်တို့သည် ယင်းသစ္စာဖောက်တို့ဘက်မှ (ဤမျက်မှောက်) လောကီဘဝတွင် ချေဆိုလျှောက်လဲ ခဲ့ကြချေပြီ။ သို့ရာတွင် ရှင်ပြန်ထမည့်နေ့၌မူ ထိုသူတို့ဘက်မှ အလ္လာဟ်အရှင်မြတ်အား မည်သူသည် ချေပပြောဆိုအံ့နည်း။ သို့တည်းမဟုတ် ထိုသူတို့အတွက် ကာကွယ် ခုခံပြောဆိုမည့်သူ မည်သူရှိအံ့နည်း။

وَمَنْ يَّعْمَلْ سُوْٓءًا اَوْ يَظْلِمْ
نَفْسَهٗ ثُمَّ يَسْتَغْفِرِ اللّٰهَ

**၁၁၀။** အမှန်စင်စစ်သော်ကား မည်သူမဆို မကောင်းမှုအကုသိုလ် တစုံတရာကို ကျူးလွန်မိအံ့။ သို့တည်းမဟုတ် ထိုသူသည် မိမိကိုယ်ကို နှိပ်စက်ကလူ ပြုမိအံ့။

---

➤➤ ပြောဆိုမိခြင်းသည် လူသာမန်တို့အတွက် အပြစ်မဟုတ်သော်လည်း တာက္ကဝါအားဖြင့်၎င်း၊ စိတ်နှလုံး၏ သန့်ရှင်းမှုအားဖြင့်၎င်း၊ အထွတ်အထိပ်သို့ ရောက်ရှိနေတော်မူသော တမန်တော်မြတ်အဘို့မှာမူ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားရန်ပင် ဖြစ်ပေသည်။ (မာဂျိဒီ)

၂ 'ထိုသူတို့သည် မိမိတို့ကိုယ်ကို မိမိတို့ပင် သစ္စာမဲ့ကြ၏' ဟု မိန့်ဆိုထားတော်မူခြင်းမှာ သစ္စာမဲ့ခြင်း၏ အကျိုးတရားဖြစ်သော အပြစ်ဒဏ်ကို သစ္စာမဲ့သူကိုယ်တိုင် ခံစားရသည့်အတွက် သူတပါးအား သစ္စာမဲ့ခြင်းသည် မိမိတို့ကိုယ်ကို မိမိတို့ပင် သစ္စာမဲ့ရာ ရောက်သည်ဟူ၍ မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။ ရှု-ရူဟုလ်မအာနီ။

يَجِدِ اللّٰهَ غَفُوْرًا رَّحِيْمًا ﴿١١٠﴾

ထို့နောက် ယင်းသူသည် အလ္လာဟ် အရှင်မြတ် အထံတော်၌ လွတ်ငြိမ်း ချမ်းသာခွင့်ကို လျှောက်ထားပန်ကြားအံ့၊ ထိုသူသည် အလ္လာဟ် အရှင်မြတ်ကို အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသော အရှင်၊ အလွန်တရာ သနားကြင်နာညှာတာတော်မူသော အရှင်အဖြစ်တွေ့ရှိပေအံ့၊

وَمَنْ يَّكْسِبْ اِثْمًا فَاِنَّمَا يَكْسِبُهٗ عَلٰى نَفْسِهٖ ؕ وَكَانَ اللّٰهُ عَلِيْمًا حَكِيْمًا ﴿١١١﴾

၁၁၁။ ထို့ပြင်တဝ မည်သူမဆို ပြစ်မှုဒုစရိုက်ကို ရှာဖွေဆည်းပူးပါမူ ထိုသူသည် ယင်းပြစ်မှုဒုစရိုက်ကို မိမိကိုယ်နှင့် ဆန့်ကျင်၍ (တနည်း) မိမိကိုယ်ကို နစ်နာဆုံးရှုံးအောင် ရှာဖွေ ဆည်းပူးသည်သာဖြစ်အံ့၊ အမှန်သော်ကား အလ္လာဟ် အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော် မူသောအရှင်၊ ကျိုးကြောင်းဆင်ခြင်တုံဉာဏ်နှင့် ပြည့်စုံတော်မူသော အရှင် ဖြစ်တော်မူလေ၏။

وَمَنْ يَّكْسِبْ خَطِيْٓـَٔةً اَوْ اِثْمًا ثُمَّ يَرْمِ بِهٖ بَرِيْٓـًٔا فَقَدِ احْتَمَلَ بُهْتَانًا وَّاِثْمًا مُّبِيْنًا ﴿١١٢﴾

၁၁၂။ ထိုမှတပါးတုံ မည်သူမဆို မှားယွင်းပြုမိတတ်သော ပြစ်မှု အသေးအဖွဲကိုဖြစ်စေ၊ ကြီးလေးသော ပြစ်မှုဒုစရိုက်ကိုဖြစ်စေ၊ ရှာဖွေဆည်းပူးပြီးနောက် ယင်းပြစ်မှုဒုစရိုက်နှင့်စပ်လျဉ်း၍ အပြစ်ကင်းမဲ့သော သူတစ်ဦးတစ်ယောက်ကို ယိုးစွပ်ပါမူ ထိုသူသည် ဧကန်မလွဲ ကြီးမားသော စွပ်စွဲမှုကိုငင်း၊ ထင်ရှားလှသော ပြစ်မှုဒုစရိုက်ကိုငင်း၊ သည်ပိုး ရွက်ဆောင်ခဲ့ချေပြီ။

وَلَوْلَا فَضْلُ اللّٰهِ عَلَيْكَ وَرَحْمَتُهٗ لَهَمَّتْ طَّآئِفَةٌ

၁၁၃။ အကယ်၍ အသင်၏အပေါ်ဝယ် အလ္လာဟ် အရှင်မြတ်၏ ကျေးဇူးတော်နှင့် ကရုဏာတော်သည် သာလျှင် မရှိခဲ့ပါမူ ထိုသူတို့အနက်မှ လူတစ်စုသည် အသင့်အား လမ်းလွဲစေကြရန် မုချ စိတ်ပြဋ္ဌာန်းပြီး ဖြစ်ခဲ့ကြ၏။

مِّنْهُمْ اَنْ يُّضِلُّوْكَ ۗ وَمَا يُضِلُّوْنَ اِلَّآ اَنْفُسَهُمْ وَمَا يَضُرُّوْنَكَ مِنْ شَيْءٍ ۗ وَاَنْزَلَ اللّٰهُ عَلَيْكَ الْكِتٰبَ وَالْحِكْمَةَ وَعَلَّمَكَ مَا لَمْ تَكُنْ تَعْلَمُ ۗ وَكَانَ فَضْلُ اللّٰهِ عَلَيْكَ عَظِيْمًا ﴿١١٣﴾

အမှန်သော်ကား ထိုသူတို့သည် မိမိတို့ ကိုယ်ကိုသာလျှင် လမ်းလွဲစေကြ၏။ ၎င်းပြင် ယင်းသူတို့သည် အသင့်အား အလျင်း နစ်နာစေနိုင်ကြသည်လည်း မဟုတ်ချေ။

အကြောင်းကား အလ္လာဟ် အရှင်မြတ်သည် အသင်၏အပေါ်ဝယ် ကျမ်းမြတ်ကိုင်း၊ ဉာဏ်ပညာကိုင်း၊ ချပေးသနားထားတော်မူခဲ့၏။ ၎င်းပြင် အသင်မသိ နားမလည်ခဲ့သော အရာများကိုလည်း အသင့်အား သင်ကြားပြသတော်မူခဲ့၏။

အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်သည် အသင်၏ အပေါ်ဝယ် ကြီးကျယ်လှပေသည်။

لَا خَيْرَ فِيْ كَثِيْرٍ مِّنْ نَّجْوٰىهُمْ اِلَّا مَنْ اَمَرَ بِصَدَقَةٍ اَوْ مَعْرُوْفٍ اَوْ اِصْلَاحٍ ۢ بَيْنَ النَّاسِ ۗ وَمَنْ يَّفْعَلْ ذٰلِكَ ابْتِغَآءَ مَرْضَاتِ اللّٰهِ فَسَوْفَ نُؤْتِيْهِ اَجْرًا عَظِيْمًا ﴿١١٤﴾

**၁၁၄။** ယေဘုယျအားဖြင့် ၎င်းတို့၏ လျှို့ဝှက်တိုင်ပင်နှီးနှောခြင်းများ၌ ကောင်းမြတ်ခြင်းသည် အလျင်း မရှိချေ။ သို့ရာတွင် အကြင်သူသည် လှူဒါန်းပေးကမ်းရန်နှင့်စပ်လျဉ်း၍၎င်း၊ ကောင်းမှုပြုရန်နှင့် စပ်လျဉ်း၍၎င်း၊ လူတို့၏စပ်ကြားတွင် သင့်မြတ်စေရန်နှင့်စပ်လျဉ်း၍၎င်း၊ ညွှန်ကြား၏။ (ထိုသို့သော ကိစ္စများနှင့် စပ်လျဉ်း၍ လျှို့ဝှက်စွာ တိုင်ပင်နှီးနှောခြင်းများတွင်မူ ကောင်းမြတ်ခြင်းရှိပေသည်၊)

အမှန်စင်စစ် မည်သူမဆို အလ္လာဟ် အရှင်မြတ်၏နှစ်သက်မှုကို ရယူခြင်းငှာ၊ ထိုကဲ့သို့ (ပေးကမ်းစွန့်ကြဲမှုကိုင်း၊ ကောင်းမှုကိုင်း၊ လူခပင်းတို့ စပ်ကြားဝယ် စေ့စပ်ခြင်းကိုင်း၊) ပြုမူအံ့။ သို့ဖြစ်လျှင် မကြာမြင့်မီ ငါအရှင်မြတ်သည် ထိုသူအား ကြီးကျယ်လှစွာသော အကျိုးကို ချီးမြှင့်ပေးသနားတော်မူအံ့။

وَمَنْ يُّشَاقِقِ الرَّسُوْلَ مِنْۢ
بَعْدِ مَا تَبَيَّنَ لَهُ
الْهُدٰى وَيَتَّبِعْ غَيْرَ
سَبِيْلِ الْمُؤْمِنِيْنَ نُوَلِّهٖ
مَا تَوَلّٰى وَنُصْلِهٖ جَهَنَّمَ ۖ
وَسَآءَتْ مَصِيْرًا ﴿١١٥﴾

**၁၁၅။** သို့ရာတွင် မည်သူမဆို မိမိအဘို့ တရားဓမ္မလမ်းစဉ်သည် ထင်ရှားခဲ့ပြီးနောက် ရစူလ်တမန်တော်ကို ဆန့်ကျင်အံ့၊ ၎င်းပြင် ထိုသူသည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့၏ လမ်းစဉ်မှအပ အခြားလမ်းစဉ်ကို လိုက်နာအံ့၊ သို့ဖြစ်လျှင် ငါအရှင်မြတ်သည် ထိုသူအား ၎င်းကိုယ်တိုင် လှည့်ရာဘက်သို့ လှည့်ပေးတော်မူအံ့။ ထို့နောက်တဖန် ငါအရှင်မြတ်သည် *ထိုသူအား ဂျဟန္နမ်* ငရဲဘုံသို့ ထည့်သွင်းတော်မူအံ့။ [၁] စင်စစ် ထို 'ဂျဟန္နမ်' ငရဲဘုံသည် အလွန်ယုတ်ညံ့လှသော ပြန်လည်ရာဌာနပင်ဖြစ်ပေသည်။

اِنَّ اللّٰهَ لَا يَغْفِرُ اَنْ يُّشْرَكَ
بِهٖ وَيَغْفِرُ مَا دُوْنَ ذٰلِكَ
لِمَنْ يَّشَآءُ ۚ وَمَنْ يُّشْرِكْ

**၁၁၆။** မုချဧကန် အလ္လာဟ် အရှင်မြတ်သည် *(အခြားတစုံတရာကို) မိမိနှင့် တွဲဘက်ယှဉ်ပြိုင် ကိုးကွယ်ခြင်းကို အလျင်း ချမ်းသာခွင့်ပေးတော်မူမည်မဟုတ်ပေ။* [၂] သို့ရာတွင် ထိုမှတပါး အခြားအပြစ်ကိုမူ မိမိအလိုရှိတော်မူသူအား ခွင့်လွှတ်တော်မူပေမည်။

---

(၁) ဤမုကဒ္ဒပါဠ်တော်ကို အကြောင်းပြု၍ ဖုကဟာ ဓမ္မသတ်ရှင်များသည် စည်းမျဉ်းတရပ်ကို ရရှိခဲ့ကြ၏။ အစ်ဂျ်မာအေ 'အွန်မွတ်' မွတ်စ်လင်မ် တမျိုးသားလုံး၏ အဆုံးအဖြတ်သည်၊ ဟွဂျ်တေရှရ်အီ လိုက်နာရန် သက်သေသာဓက တရပ်ဖြစ်သည် ဟု ယူဆခဲ့ကြသည်။ အဘယ်ကြောင့်ဆိုသော် မုအ်မင်န်တို့၏ လမ်းစဉ်မှအပ အခြားလမ်းစဉ်ကို လိုက်နာခြင်းသည် ဟရာမ်ဖြစ်၏။ ယင်းသို့လိုက်နာသူသည် ဂျဟန္နမ်ငရဲသို့ လားရမည်လည်းဖြစ်၏။ သို့ဖြစ်ရာ ၎င်း၏ဆန့်ကျင်ဘက် (ဝါ) မုအ်မင်န်တို့၏ လမ်းစဉ်ကို လိုက်နာခြင်းသည် မုချဝါဂျစ်ဗ် ဖြစ်၏။ မုအ်မင်န်တို့၏ လမ်းစဉ်ကို ဆန့်ကျင်ခြင်းသည်လည်း ကုရ်အာန်ကျမ်းမြတ်နှင့် နဗီတမန်တော်၏ စွန္နတ်တော်ကို ဆန့်ကျင်ခြင်း ဖြစ်ဘိသကဲ့သို့ ဖြစ်သည်။ ၎င်းပြင် ဤမုကဒ္ဒပါဠ်တော်တွင်လည်း အလ္လာဟ်အရှင်မြတ်သည် မုအ်မင်န်တို့၏ လမ်းစဉ်ကို မလိုက်နာခြင်းကို တမန်တော်မြတ်အား ဆန့်ကျင်ခြင်းနှင့် ပူးတွဲ မိန့်ဆိုထားတော်မူသည်။ ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် မုအ်မင်န်တို့၏ လမ်းစဉ်ကို လိုက်နာခြင်းသည် အဘယ်မျှ အရေးကြီးကြောင်း သိရှိနိုင်ပေသည်။

(၂) 'တောင်ဟီဒ်'ခေါ် တဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ခြင်းသည် အစ္စလာမ်သာသနာ၏ အဓိကအချက်ပင် ဖြစ်၏။ 'ရှရစ်က်' ခေါ် အလ္လာဟ်အရှင်မြတ်နှင့် ဖက်စပ်ယှဉ်တွဲ၍ အခြားတစ်စုံတစ်ရာကို ကိုးကွယ်ခြင်းသည် 'တောင်ဟီဒ်' နှင့် လုံးဝ ဆန့်ကျင်သော အချက်ပင်ဖြစ်၏။ 'တောင်ဟီဒ်' သည် ➢➢

بِاللّٰهِ فَقَدْ ضَلَّ ضَلٰلًاۢ بَعِيْدًا ﴿١١٦﴾

အမှန်စင်စစ်သော်ကား မည်သူမဆို (တစုံတရာကို) အလ္လာဟ် အရှင်မြတ်နှင့် တွဲဘက် (ယှဉ်ပြိုင်ကိုးကွယ်)ပါမူ၊ ထိုသူသည် မလွဲဧကန် (မှန်ကန်သောတရားလမ်းတော်မှ) အလွန်ကမ်းလှမ်းဝေးကွာသော လမ်းမှားသို့ ရောက်ရှိချေပြီ။

اِنْ يَّدْعُوْنَ مِنْ دُوْنِهٖۤ اِلَّاۤ اِنٰثًاۚ وَاِنْ يَّدْعُوْنَ اِلَّا شَيْطٰنًا مَّرِيْدًا ﴿١١٧﴾

**၁၁၇။** ၎င်း(မုရှ်ရစ်က်)တို့သည် ထိုအရှင်မြတ်မှတပါး *'ဣတ္ထိ' - 'မ' များကိုသာကိုးကွယ်ကြ၏။* [၁] ၎င်းပြင် ထိုသူတို့သည်။ ပုန်ကန်သော "ရှိုင်တွာန်" ကိုသာ တိုင်တည်ကိုးကွယ် ပတ္ထနာပြုကြသည်။

لَّعَنَهُ اللّٰهُ ۘ وَقَالَ لَاَتَّخِذَنَّ مِنْ عِبَادِكَ نَصِيْبًا مَّفْرُوْضًا ﴿١١٨﴾

**၁၁၈။** အလ္လာဟ် အရှင်မြတ်သည် 'ရှိုင်တွာန်' ကို (မိမိ) ကရုဏာတော်မှ ကင်းဝေးစေတော်မူခဲ့ချေပြီ။ (ယင်းကဲ့သို့ ကရုဏာတော်မှ ကင်းဝေးရသောအခါ) ထို "ရှိုင်တွာန်" က(ဤသို့)လျှောက်ထားခဲ့လေသည်။ "ကျွန်တော်မျိုးသည် အရှင်မြတ်၏ကျွန်များအနက်မှ (မိမိအဘို့မိမိ) သတ်မှတ်ပြဋ္ဌာန်းပြီးဖြစ်သော ဝေစုဝေပုံတစုံ တခုကို မုချယူပါမည်။

---

➤➤ ကောင်းကျိုးချမ်းသာ အဖြာဖြာတို့၏ ရေသောက်မြစ် ဖြစ်သကဲ့သို့ 'ရှရစ်က်' သည် မကောင်းမှုအစုစုတို့၏ ပေါက်ဖွားရာ ဌာနပင်ဖြစ်၏။

ခရီးသည်တစ်ဦးသည် မိမိသွားလိုရာ လမ်းစခန်းဘက်သို့ ဦးမတည်ဘဲ ကျောခိုင်း၍ သွားသည်ရှိသော် ထိုသူသည် လိုရာစခန်းသို့ ဘယ်သောအခါမျှ မရောက်နိုင်သည့်အပြင် လိုရာစခန်းနှင့် တနေ့ထက်တနေ့ ဝေး၍ဝေး၍သာ သွားပေမည်။ (ထို့အတူ တောင်ဟီဒ်ကိုကျောခိုင်းလျက်ရှိသော မုရှ်ရစ်က်သည်လည်း ကောင်းကျိုးချမ်းသာများမှ တနေ့တခြား ဝေး၍ဝေး၍သာ သွားကြပေမည်။)

ရှရစ်က်သည် ပြစ်မှုတို့တွင် အကြီးလေးဆုံးပင် ဖြစ်၏။ မည်သည့်ပြစ်မှုနှင့်မျှ မနှိုင်းယှဉ်နိုင်ပေ။ ထို့အတွက်ကြောင့် အလ္လာဟ်အရှင်မြတ်သည် ရှရစ်က်မှအပ အခြား အပြစ်ကြီးငယ်တို့ကို မိမိအလိုတော်ရှိက လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူမည် ဖြစ်သော်လည်း ရှရစ်က် ကိုမူ လွတ်ငြိမ်းချမ်းသာခွင့် အလျှင်းပေးတော်မူမည် မဟုတ်ပေ။ မာဂျိဒီ၊ စာမျက်နှာ - ၂၁၆၊ အောက်ခြေအမှတ် (၇၃၀)

(၁) 'ဂျာဟိလီယတ်' အမိုက်ခေတ်တွင် အရဗ်မုရှ်ရစ်က်တို့ ဆည်းကပ်ကိုးကွယ်သော ဘုရားများ၏ အမည်များသည် များသောအားဖြင့် ဣတ္ထိလိင် အမည်များဖြစ်ကြသည်။ ဥပမာ - လာတ်၊ မနာတ်၊ အုဇ္ဇာ၊ ဤအမည်များသည် ဣတ္ထိလိင် အမည်များသာဖြစ်သည်။



وَّلَاُضِلَّنَّهُمۡ وَلَاُمَنِّيَنَّهُمۡ وَلَاٰمُرَنَّهُمۡ فَلَيُبَتِّكُنَّ اٰذَانَ الۡاَنۡعَامِ وَلَاٰمُرَنَّهُمۡ فَلَيُغَيِّرُنَّ خَلۡقَ اللّٰهِ‌ ؕ وَمَنۡ يَّتَّخِذِ الشَّيۡطٰنَ وَلِيًّا مِّنۡ دُوۡنِ اللّٰهِ فَقَدۡ خَسِرَ خُسۡرَانًا مُّبِيۡنًا ﴿۱۱۹﴾

**၁၁၉။** (ယူမည့်နည်းကား) ကျွန်တော်မျိုးသည် ယင်းသူတို့အား လမ်းမှားသို့လည်း မုချရောက်စေပါမည်။ ၎င်းပြင် ထိုသူတို့အား လိုချင်တပ်မက်ခြင်းကိုလည်း အမှန်ပင် ဖြစ်စေပါမည်။ ထို့ပြင်တဝ ကျွန်တော်မျိုးသည် ယင်းသူတို့အား ဧကန်စင်စစ် အမိန့်ပေးပါမည်။ သို့ဖြစ်လျှင် ထိုသူတို့သည် အခြေလေးချောင်းသတ္တဝါတို့၏ *နားရွက်များကို ဖြတ်တောက်ကြလတ္တံ့။* [၁] ထိုနည်းတူစွာ ကျွန်တော်မျိုးသည် ၎င်းတို့အား အမိန့်ပေးပါမည်။ သို့အမိန့်ပေးလျှင် ထိုသူတို့သည် *အလ္လာဟ်အရှင်မြတ် ဖန်ဆင်းထားတော်မူသော* (နဂိုမူလ)*ရုပ်လက္ခဏာကို ပြောင်းလဲကြလတ္တံ့။* [၂]

အမှန်စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ်၏အစား "ရှိုင်တွာန်" ကို အဆွေခင်ပွန်းပြုလုပ်အံ့။ ထိုသူသည် မလွဲဧကန် အလွန်(ကြီးလေး) ထင်ရှားလှစွာသော နစ်နာဆုံးရှုံးမှုကို ခံစားရလတ္တံ့။

---

➢➢ သတ္တဝါများတွင် ကျွတ္တိလိင်များသည် ပုလ္လိင်များနှင့် စာလျှင် အားအင်ချည့်နဲ့သည်ကို တွေ့ရှိရ၏။ ထို့အတွက်ကြောင့် အားအင်ချည့်နဲ့သော အရာကိုလည်း ကျွတ္တိလိင် 'မ' ဟူ၍ အရဗီဘာသာစာပေတွင် အသုံးအနှုန်းရှိသည်။ ရှု – ရာဃိဗ်။

အရဗ်မုရှိရစ်က်တို့၏ ကိုးကွယ်ရာများသည် ဂျဲမာဒါတ် (Mineral)မာကျစ်သော သက်ရင့်ပံသုပထဝီဖြင့် ပြုလုပ်ထားသောသတ္တု အရာများသာဖြစ်၏။ ထိုကိုးကွယ်ရာများတွင် တစ်စုံတစ်ရာ တွေးဆနိုင်သော သတ္တိ၊ ကြားနိုင်သောသတ္တိ၊ ပြုစွမ်းနိုင်သော သတ္တိဟူ၍ အလျင်းမရှိချေ။ ဤသည့်အချက်ကို အကြောင်းပြု၍ ကုရ်အာန်ကျမ်းမြတ် (၁၉း၄၂) တွင် ပါရှိသည့်အတိုင်း တမန်တော်မြတ် အီဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်) က မိမိ၏ဘခင်အား အို–ကျွန့်ပ်၏ ဘခင်၊ ဘခင်သည် မကြားသော၊ မမြင်သော၊ ဘခင်အားတစုံတရာ မကာကွယ်နိုင်သောအရာကို အဘယ်ကြောင့် ကိုးကွယ်ပါသနည်းဟု ပြောကြားခဲ့ဘူး၏။

အရဗ်မုရှိရစ်က်တို့၏ ကိုးကွယ်ရာများတွင် အစွမ်းသတ္တိ အလျင်း မရှိသည့်အတွက် အလ္လာဟ်အရှင်မြတ်က ထိုသို့သော ကိုးကွယ်ရာများကို ကျွတ္တိလိင် ဟူသော အမည်ဖြင့် ခေါ်ဝေါ် သုံးစွဲ ထားတော်မူခြင်းဖြစ်သည်။ ရှု–ရာဃိဗ်၊ စာမျက်နှာ – (၂၇)

⓵ အရဗ်မုရှိရစ်က်တို့သည် မိမိတို့၏ ကိုးကွယ်ရာများအား ပူဇော်ပသရန် ရည်စူးသော တိရစ္ဆာန်များ၏ နားရွက်များကို တိဖြတ်လေ့ရှိကြသည်။ ဤကား အမိုက်ခေတ်၏ ဓလေ့ထုံးစံတရပ်ပင်ဖြစ်သည်။ (ထာနဝီ)။

يَعِدُهُمْ وَيُمَنِّيهِمْ ۖ وَمَا يَعِدُهُمُ الشَّيْطَٰنُ إِلَّا غُرُورًا ﴿١٢٠﴾

၁၂၀။ ထို 'ရှိုင်တွာန်' သည် ထိုသူတို့အား ကတိပေး၏။ [၁] တပ်မက်မောစေ၏။ သို့ရာတွင်ထို 'ရှိုင်တွာန်' သည် ထိုသူတို့အား လိမ်လည်ဖြားယောင်းခြင်းအားဖြင့်သာ ကတိပေးသည်။

أُولَٰٓئِكَ مَأْوَىٰهُمْ جَهَنَّمُ وَلَا يَجِدُونَ عَنْهَا مَحِيصًا ﴿١٢١﴾

၁၂၁။ ထို သူများကား၊ ဤသူများ ပင်တည်း၊ ယင်းသူတို့၏ ခိုလှုံရာ ဌာနကား "ဂျဟန္နမ်" ငရဲဘုံဖြစ်၏။ ၎င်းပြင် ယင်းသူတို့သည် ထိုငရဲဘုံမှ ထွက်ပြေးလွတ်မြောက်ရာ တစုံတရာဌာနကိုလည်း ရရှိကြမည်မဟုတ်ပေ။

---

(၂) 'အလ္လာဟ်အရှင်မြတ်၏ ဖန်ဆင်းမှုကို ပြောင်းလွဲခြင်း ဟူသော စကားကို အနက်ဖွင့်ရာတွင် အဆို အမျိုးမျိုး တွေ့ရှိရ၏။

(က) အလ္လာဟ် အရှင်မြတ်၏ ဖန်ဆင်းမှု ဟူသည် ထိုအရှင်မြတ် ပြုပြင် စီရင်ဖန်ဆင်း ထားတော်မူသော မူလ ရုပ်ဆင်းသဏ္ဍာန် ကိုယ်အင်္ဂါ အနေအထားကို ဆိုလိုသည်။ ပြောင်းလဲခြင်း ဟူသည် ထိုမူလ ရုပ်ဆင်းသဏ္ဍာန်ကို ပြောင်းလဲခြင်းကို ဆိုလိုသည်။ ဤစကားတွင် ပရဲထိုးခြင်း၊ မှင်ကြောင်ထိုးခြင်း၊ ယောကျ်ားက မိန်းမကဲ့သို့ ပြင်ဆင်ပြုမူ ဆင်ယင်ခြင်း၊ မိန်းမက ယောကျ်ားကဲ့သို့ ပြင်ဆင်ပြုမူ ဆင်ယင်ခြင်း၊ စသည်တို့သည် အကျုံးဝင်ပေသည်။

(ခ) အလ္လာဟ်အရှင်မြတ်၏ ဖန်ဆင်းမှုဟူသည် ထိုအရှင်မြတ်၏ တရားဒေသနာတော်ကို ဆိုလိုသည် ပြောင်းလဲမှုဟူသည် ထိုအရှင်မြတ်၏ တရားဒေသနာတော်များကို ကပြောင်းကပြန် ပြုလုပ်ခြင်းကို ဆိုလိုသည်။ ဤစကားတွင် 'ဟလာလ်' ကို 'ဟရာမ်' ပြုခြင်း၊ 'ဟရာမ်' ကို 'ဟလာလ်' ပြုခြင်း စသည့်များ အကျုံးဝင်ပေသည်။

(ဂ) နေ ကိုးကွယ်ခြင်း၊ လ ကိုးကွယ်ခြင်း၊ သစ်ပင် ကိုးကွယ်ခြင်း၊ တိရစ္ဆာန် ကိုးကွယ်ခြင်း တို့သည် အလ္လာဟ် အရှင်မြတ် ဖန်ဆင်းထားတော် မူသော သဘာဝကို ပြောင်းလဲခြင်းတွင် အကျုံးဝင်ပေသည်။ အဘယ်ကြောင့်ဆိုသော် ထိုအရာများသည် လူသားတို့ အကျိုးငှာ အလ္လာဟ် အရှင်မြတ် ဖန်ဆင်းထားတော် မူသော အသုံးခံ ပစ္စည်းများသာ ဖြစ်ချေသည်။ သို့ဖြစ်ပေရာ မိမိတို့၏ အသုံးခံပစ္စည်းများကို အသုံးခံအဖြစ် အသုံးမပြုဘဲ ယင်းပစ္စည်း များကိုပင် ကိုးကွယ်သမှု ပြုခြင်းမှာ ထိုအရှင်မြတ်၏ ဖန်ဆင်းခြင်း၏ မူလရည်ရွယ်ချက်ကို ပြောင်းလဲရာ ရောက်ပေသည်။

(၁) ရှိုင်တွာန်သည် လူသားတို့အား မည်သို့ ကတိပေးသည် မည်သို့ ညွှန်ကြားသည်များကို ကုရ်အာန်ကျမ်းမြတ် (၂:၂၆၈) တွင် တွေ့ရှိရပေသည်။

وَالَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ سَنُدْخِلُهُمْ جَنّٰتٍ تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ خٰلِدِيْنَ فِيْهَآ اَبَدًا ؕ وَعْدَ اللّٰهِ حَقًّا ؕ وَمَنْ اَصْدَقُ مِنَ اللّٰهِ قِيْلًا ﴿١٢٢﴾

၁၂၂။ သို့ရာတွင် အကြင်သူများသည် 'အီမာန်' ယုံကြည်ခဲ့ကြ၏။ ၎င်းပြင် ကောင်းမြတ်သော ကျင့်ဝတ်များကိုလည်းကျင့်မူခဲ့ကြ၏။ ငါအရှင်မြတ်သည် မကြာမြင့်မီ ထိုသူတို့အား (အကြင်သို့သော) ဥယျာဉ်များသို့ ဝင်ရောက် နေထိုင်စေတော်မူအံ့၊ ထိုဥယျာဉ်များအောက်မှ စမ်းရေချောင်းများသည် စီးတွေလျက်ရှိကြအံ့။ ထိုသူများသည် ထိုဥယျာဉ်များတွင် အမြဲထာဝစဉ် နေထိုင်စံမြန်းကြအံ့။

အလ္လာဟ် အရှင်မြတ်သည် မှန်ကန်သော ကတိကို ပြုထားတော်မူသည်။ အမှန်စင်စစ် အလ္လာဟ် အရှင်မြတ်ထက်ပိုမို၍ စကားအရာ၌ မှန်ကန်သော သူသည် မည်သူရှိအံ့နည်း။

لَيْسَ بِاَمَانِيِّكُمْ وَلَآ اَمَانِيِّ اَهْلِ الْكِتٰبِ ؕ مَنْ يَّعْمَلْ سُوْٓءًا يُّجْزَ بِهٖ ۙ وَلَا يَجِدْ لَهٗ مِنْ دُوْنِ اللّٰهِ وَلِيًّا وَّلَا نَصِيْرًا ﴿١٢٣﴾

၁၂၃။ အသင်တို့၏ အာသာရမ္မက် အလိုဆန္ဒ အတိုင်းလည်းဖြစ်မည် မဟုတ်ပေ။ (ရှေးအထက်) ကျမ်းဂန်ရရှိသောသူတို့၏ အာသာရမ္မက် အလိုဆန္ဒ အတိုင်းလည်း ဖြစ်မည်မဟုတ်ပေ။ (စင်စစ်အားဖြင့်) မည်သူမဆို မကောင်းမှု ဒုစရိုက်ကို ကျင့်မူအံ့။ ထိုသူသည် ယင်းမကောင်းမှုအတွက် အပြစ်ပေးခြင်းကို ခံရလတ္တံ့။ ထို့ပြင်တဝ ယင်းသူသည် မိမိအဘို့ အလ္လာဟ်အရှင်မြတ်မှတပါး အခြား အဆွေခင်ပွန်း တဦးတယောက်ကိုသော်၎င်း၊ ကူညီစောင်မမည့်သူ တဦးတယောက်ကိုသော်၎င်း၊ တွေ့ရှိလိမ့်မည် မဟုတ်ချေ။

وَمَنْ يَّعْمَلْ مِنَ الصّٰلِحٰتِ

၁၂၄။ သို့ရာတွင် မည်သူမဆို ယောကျ်ားဖြစ်စေ၊ မိန်းမဖြစ်စေ၊ ကောင်းမြတ်သော ကျင့်ဝတ်တို့ကို ကျင့်မူအံ့၊

مِنْ ذَكَرٍ اَوْ اُنْثٰى وَهُوَ مُؤْمِنٌ فَاُولٰٓئِكَ يَدْخُلُوْنَ الْجَنَّةَ وَلَا يُظْلَمُوْنَ نَقِيْرًا ﴿١٢٤﴾

ၛင်းပြင် ထိုသူသည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူလည်းဖြစ်အံ့၊ [၁] သို့ဖြစ်လျှင် ထိုကဲ့သို့သောသူတို့သည် 'ဂျန္နတ်' အမတ သုခဘုံသို့ ဝင်ရောက် (စံမြန်း) ကြရမည့်အပြင် ထိုသူတို့သည် နှိပ်စက်ညှင်းပန်းခြင်း ကိုလည်း စိုးစဉ်းမျှ ခံကြရမည် မဟုတ်ပေ။

وَمَنْ اَحْسَنُ دِيْنًا مِّمَّنْ اَسْلَمَ وَجْهَهٗ لِلّٰهِ وَهُوَ مُحْسِنٌ وَّاتَّبَعَ مِلَّةَ اِبْرٰهِيْمَ حَنِيْفًا ۗ وَاتَّخَذَ اللّٰهُ اِبْرٰهِيْمَ خَلِيْلًا ﴿١٢٥﴾

၁၂၅။ အမှန်သော်ကား အကြင် သူထက် 'ဒီန်' သာသနာအားဖြင့် ပိုမို၍ မြင့်မြတ်သောသူသည် မည်သူရှိသနည်း။ ထိုသူသည် မိမိမျက်နှာ (မိမိကိုယ်) ကို အလ္လာဟ်အရှင်မြတ် အထံတော်သို့ အပ်နှင်းခဲ့သည့်ပြင် (အပြောအဆို အကျင့်အမူ အားဖြင့်) မြင့်မြတ်သော သူလည်းဖြစ်၏။ ထိုမှတပါး ထိုသူသည် ဖြောင့်မတ်တည်ကြည်သော (နဗီတမန်တော်) အီဗ်ရာဟီမ်၏ 'ဒီန်' သာသနာ [၂] ကိုလည်း လိုက်နာ၏။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် (နဗီတမန်တော်) အီဗ်ရာဟီမ်အား (မိမိ) မိတ်ဆွေအဖြစ် ပြုလုပ်ချီးမြှင့်တော်မူခဲ့လေသတည်း။

وَلِلّٰهِ مَا فِى السَّمٰوٰتِ وَمَا فِى الْاَرْضِ ۗ وَكَانَ اللّٰهُ بِكُلِّ شَىْءٍ مُّحِيْطًا ﴿١٢٦﴾

၁၂၆။ ထို့ပြင်တဝ အာကာသ ကောင်းကင်များ၌ ရှိရှိသမျှတို့သည်၎င်း၊ ပထဝီမြေကြီး၌ ရှိရှိသမျှတို့သည်၎င်း၊ အလ္လာဟ် အရှင်မြတ် ပိုင်ဆိုင်သော ပစ္စည်းများသာ ဖြစ်သည်။ စင်စစ် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ဝန်းခြံလျက် ရှိတော်မူသောအရှင် ဖြစ်တော်မူသည်။

---

(၁) မုအ်မင်န်အဖြစ်နှင့် ပြုလုပ်သော ကောင်းမှုသည်သာလျှင် ကောင်းမှုအစစ်အမှန်ဖြစ်၏။ အီမာန်တည်းဟူသော သဒ္ဓါတရားမပါဘဲလျက် ပြုလုပ်သော ကောင်းမှုသည် အမည်ခံကောင်းမှုမျှသာ ဖြစ်ချေမည်။ အစစ်အမှန်ကောင်းမှု မဖြစ်နိုင်ပေ။ ထိုသို့သော အမည်ခံကောင်းမှုများကိုလည်း အလ္လာဟ်အရှင်မြတ်သည် လက်ခံတော်မူမည်မဟုတ်ပေ။ ရှု-မာရိဒီ။ အတွဲ ၁၊ အောက်ခြေအမှတ် (၇၄၂)။

(၂) နဗီတမန်တော် အီဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်) ၏သာသနာသည် အစ္စလာမ်သာသနာပင် ဖြစ်သည်။

وَيَسْتَفْتُونَكَ فِي النِّسَآءِ ۖ
قُلِ اللّٰهُ يُفْتِيكُمْ فِيهِنَّ ۙ وَمَا
يُتْلٰى عَلَيْكُمْ فِي الْكِتٰبِ
فِي يَتٰمَى النِّسَآءِ الّٰتِي
لَا تُؤْتُونَهُنَّ مَا كُتِبَ
لَهُنَّ وَتَرْغَبُونَ أَنْ
تَنْكِحُوهُنَّ وَالْمُسْتَضْعَفِينَ
مِنَ الْوِلْدَانِ ۙ وَأَنْ
تَقُومُوا لِلْيَتٰمٰى بِالْقِسْطِ ۖ
وَمَا تَفْعَلُوا مِنْ خَيْرٍ فَإِنَّ
اللّٰهَ كَانَ بِهٖ عَلِيمًا ﴿١٢٧﴾

၁၂၇။ ၎င်းပြင် ထိုသူတို့သည် မိန်းမတို့(၏ အမွေနှင့် စပ်လျဉ်း၍၎င်း၊ 'မဟရ်' နှင့် စပ်လျဉ်း၍၎င်း) ဓမ္မသတ် ဆုံးဖြတ်ချက်ကို အသင့်ထံတောင်းကြကုန်သည်။ အသင်သည် (ထိုသူတို့အားၤဤသို့)ဖြေကြားပါလေ။ 'အလ္လာဟ် အရှင်မြတ်သည် မိန်းမတို့နှင့် ပတ်သက်၍ အသင်တို့အား (ယခင်အတိုင်းပင်) တရားစီရင် ပြဋ္ဌာန်းပေးတော် မူလေသည်။ ထို့ပြင် တဝ (ယခင်က ချမှတ်ပေးတော် မူခဲ့ပြီးဖြစ်၍) ကုရ်အာန် ကျမ်းတော်မြတ်တွင် အသင်တို့အား ဖတ်ရွတ် ကြားနာစေတော် မူခဲ့သော မုက္ခပါဋ်တော်များသည်လည်း (အသင်တို့ကို ညွှန်ကြားလျက်) ရှိပေသည်။ ထိုမုက္ခပါဋ်တော်များသည် အကြင်မိဘမဲ့ မိန်းကလေးတို့နှင့် ပတ်သက်သော မုက္ခပါဋ်တော်များဖြစ်၏။ အသင်တို့သည် ထိုမိန်းကလေးတို့အဘို့ သတ်မှတ်ပြဋ္ဌာန်းထားတော်မူသော အခွင့်အရေးများကို မပေးကြပေ။ ၎င်းပြင် အသင်တို့သည် ထိုမိန်းကလေးတို့နှင့်လည်း ထိမ်းမြားလိုကြ၏။ ထိုနည်းတူစွာ (ယင်းမုက္ခပါဋ်တော်များသည်) အားအင်ချည့်နဲ့သော သူငယ်တို့နှင့် ပတ်သက်သော အမိန့်တော်များလည်းဖြစ်၏။ ၎င်းပြင် အသင်တို့သည် မိဘမဲ့ကလေးတို့နှင့် ပတ်သက်၍ တရားမျှတစွာ ဆောင်ရွက်ကြရန် အမိန့်တော်လည်းဖြစ်ပေသည်။

အမှန်စင်စစ်သော်ကား အသင်တို့သည် မည်သည့်ကောင်းမှုကိုမဆို ပြုလုပ်ကြပါမူ အလ္လာဟ် အရှင်မြတ်သည် ဧကန်မလွဲ ယင်းကောင်းမှုကို ကောင်းစွာ သိရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَإِنِ امْرَأَةٌ خَافَتْ مِنْ بَعْلِهَا نُشُوزًا أَوْ إِعْرَاضًا فَلَا جُنَاحَ عَلَيْهِمَا أَنْ يُصْلِحَا بَيْنَهُمَا صُلْحًا ۚ وَالصُّلْحُ خَيْرٌ ۗ وَأُحْضِرَتِ الْأَنْفُسُ الشُّحَّ ۚ وَإِنْ تُحْسِنُوا وَتَتَّقُوا فَإِنَّ اللَّهَ كَانَ بِمَا

**၁၂၈။** ထို့ပြင်တဝ အကယ်၍ အကြင်မိန်းမတစ်ဦးသည် မိမိလင်ယောကျ်ား၏ နှိပ်စက်ခြင်းကိုသော်၎င်း၊ လျစ်လျူရှု စွန့်ပစ်ထားခြင်းကိုသော်၎င်း၊ စိုးရိမ်မကင်းဖြစ်ခဲ့အံ့။ သို့ဖြစ်ခဲ့သော် ထို(ဇနီးမောင်နှံ)နှစ်ဦးတို့သည် အကယ်၍ ပြန်လည် သင့်မြတ်စေသော စည်းကမ်းချက်တစ်စုံတစ်ခုကို သတ်မှတ်ခြင်း အားဖြင့် ပြန်လည် သင့်မြတ်ကြပါလျှင်၊ ၎င်းနှစ်ဦး၏အပေါ်၌ အပြစ်တစ်စုံတစ်ရာမျှ မရှိချေ။ [၁]

(မည်သို့ပင်ဖြစ်စေကာမူ) ပြန်လည် သင့်မြတ်ခြင်းသည် အကောင်းဆုံးပင်ဖြစ်ချေသည်။ အမှန်စင်စစ်သော်ကား လောဘရမ္မက်သည် [၂] (လူတို့၏) စိတ်တွင် ရှိမြဲပင် ဖြစ်ပေသည်။

---

(၁) အကယ်၍ ဇနီးမိန်းမတစ်ဦးသည် မိမိ၏ခင်ပွန်းယောကျ်ားက နှိပ်စက်ခြင်း၊ အရေးမစိုက်၊ ဂရုမထားခြင်း၊ ဝတ္တရား ပျက်ကွက်ခြင်းများကို စိုးရိမ်မကင်းဖြစ်သည်ရှိသော် ထိုဇနီးမောင်နှံ ၂-ဦးတို့သည် တရားတော်နှင့် မဆန့်ကျင်သော စည်းကမ်းချက်များကို သတ်မှတ်ပြီး တနည်းတဖုံ အချင်းချင်း ပြန်လည်သင့်မြတ်ကြရပေမည်။ သင့်မြတ်ရန်နည်းလမ်းကား ဇနီးမိန်းမသည် မိမိပိုင်ဆိုင်သော အခွင့်အရေးများအနက် ဥပမာ 'မဟ်ရ်' ကို လျှော့ခြင်း၊ သို့မဟုတ် အားလုံးစွန့်လွှတ်ခြင်း၊ သို့မဟုတ် စားစရိတ်လျှော့၍ယူခြင်း၊ စသည်များဖြစ်သည်။ ဤသို့ပြုလုပ်ပြီး ပြန်လည် သင့်မြတ်ကြသည့်အတွက် ထိုဇနီးမောင်နှံ ၂-ဦးအပေါ်၌ တစ်စုံတစ်ရာ အပြစ်လည်း မရှိချေ။ ရှု - မာဂျိဒီ။

(၂) **ဖော်ပြချက်**

ဇနီးမောင်နှံ ၂-ဦးတို့ ပြန်လည်သင့်မြတ်ရာတွင် ထားရှိကြသော စည်းကမ်းချက်များသည် တရားဝင် ပြုပိုင်သော စည်းကမ်းချက်များ ဖြစ်ရပေမည်။ ဟရာမ်ဟူ၍ မြစ်တားထားသော တရားမဝင်သော စည်းကမ်းချက်များ မဖြစ်စေရ။

ဤကိစ္စနှင့် စပ်လျဉ်း၍ 'ဖုကဟာ' မွေသတ်ရှင်ကြီးများက အတည့်အလင်း ရေးသားထားကြသည်မှာ အကယ်၍ ဇနီးမောင်နှံ နှစ်ဦးတို့၏ ပြန်လည်သင့်မြတ်မှုသည် တရားမဝင်သော စည်းကမ်းချက် တရပ်ပေါ်၌ တည်ရှိနေပါမူ ထိုသင့်မြတ်မှုသည် တရားမဝင် အချည်းနှီးပင် ဖြစ်ပေမည်။ ဥပမာ ယောကျ်ားဖြစ်သူက ပြန်လည် သင့်မြတ်ရာတွင် မိမိ၏ ဇနီးနှင့်အတူတကွ ထိုဇနီး၏ ညီမအရင်းကိုလည်း ဇနီးသည်အဖြစ် ထားရှိမည်ဟု စည်းကမ်းချက်ထားရှိ၍ ထိုစည်းကမ်းချက်ကို ထိုဇနီးသည်ကလည်း လက်ခံသဘောတူသည် ရှိသော်ငြားလည်း အစ္စလာမ် တရားတော်တွင် ညီအစ်မအရင်း ၂ ယောက်ကို တချိန်တည်း ထိမ်းမြားခြင်းမှာ ဟရာမ်ဖြစ်သည့်အတွက် ယင်းသင့်မြတ်မှုသည် တရားမဝင် အချည်းအနှီးပင် ဖြစ်ပေသည်။ ➤➤

تَعْمَلُوْنَ خَبِيْرًا ﴿١٢٨﴾

သို့ရာတွင် အကယ်၍ အသင်တို့သည် (ဇနီးမိန်းမတို့နှင့်) ကောင်းစွာဆက်ဆံ၍ (၎င်းတို့အား လျစ်လျူရှု စွန့်ပစ်ထားခြင်းမှ) ကြဉ်ရှောင်ကြပါမူ၊ (အသင်တို့သည် ကြီးကျယ်လှသော ကုသိုလ်အကျိုး ရရှိကြအံ့၊ အဘယ်ကြောင့်ဆိုသော်) အလ္လာဟ် အရှင်မြတ်သည် အသင်တို့ ပြုမူသမျှတို့ကို ဧကန်စင်စစ် အကြွင်းမဲ့ ကြားသိတော် မူသော အရှင်မြတ်ပင် ဖြစ်တော် မူပေသတည်း။

وَلَنْ تَسْتَطِيْعُوْٓا اَنْ تَعْدِلُوْا بَيْنَ النِّسَآءِ وَلَوْ حَرَصْتُمْ فَلَا تَمِيْلُوْا كُلَّ الْمَيْلِ فَتَذَرُوْهَا كَالْمُعَلَّقَةِ ۗ وَاِنْ تُصْلِحُوْا وَتَتَّقُوْا فَاِنَّ اللّٰهَ كَانَ

၁၂၉။ ထိုမှတပါးတုံ အသင်တို့သည် (မည်မျှပင် တရားမျှတစေရန်) ဆန္ဒ ထားရှိကြသော်လည်း (မိမိတို့၏တဦးထက်ပိုသော) ဇနီးမိန်းမတို့၏ စပ်ကြား ဝယ် (အဘက်ဘက်မှ) တရားမျှတအောင် အလျင်း ပြုနိုင်ကြမည်မဟုတ်ပေ။ [1] သို့ဖြစ်ပေရာ အသင်တို့သည် (ဇနီးမိန်းမတဦးဦးဘက်သို့) လုံးဝ တဘက်သက် ယိမ်းယိုင်မသွားကြကုန်လင့်။ သို့ (ယိမ်းယိုင်ကြ)ပါလျှင် အသင်တို့သည် (အခြား) ဇနီးမိန်းမကို တွဲလျားထားဘိသကဲ့သို့ ဖြစ်အံ့။ [2]

---

➤➤ ဇနီးမောင်နှံ ၂-ဦးတို့အချင်းချင်း ပြန်လည်သင့်မြတ်ရာတွင် ဇနီးသည် မိမိ၏ ခင်ပွန်းသည်အား ကျေနပ်စေရန်အတွက် မိမိ ရသင့်ရထိုက်သော အခွင့်အရေးများအနက် အချို့သော အခွင့်အရေးများကို စွန့်လွှတ်နိုင်သည် ဥပမာ-ဇနီးမိန်းမသည် မိမိ၏ မဟ်ရ်ကို ခွင့်လွှတ်ခြင်း၊ မိမိ၏ အလှည့်ကို အခြားဇနီးအား လွှဲပေးခြင်း၊ မိမိ၏ ကုန်ကျစရိတ်များကို လျှော့ယူခြင်း။

ယောကျ်ားများအပေါ်၌ရှိသော ဇနီးမိန်းမတို့၏ အခွင့်အရေးများသည် (၂) မျိုး ၂-စားရှိသည်၊ (၁) အမြဲအတည်ဖြစ်သော အခွင့်အရေး၊ ဥပမာ - မဟ်ရ်။ (၂) အချိန်အခါအားလျော်စွာ ဖြစ်ပေါ်သော အခွင့်အရေးများ၊ ဥပမာ - စားစရိတ်၊ မေထုန်မှု။

ဇနီးမိန်းမသည် လင်ခင်ပွန်းနှင့် ပြန်လည်သင့်မြတ်ရန်အတွက် အထက်တွင် ဖော်ပြပါ အခွင့်အရေး ၂-မျိုး ၂-စားလုံးကို ခွင့်လွှတ်နိုင်သည် သို့ရာတွင် ခြားနားချက်တရပ်မှာ ပဌမအမျိုးအစားဖြစ်သော အခွင့်အရေးများကို စွန့်လွှတ်လိုက်သည်ရှိသော် ပြန်လည်တောင်းဆိုပိုင်ခွင့် မရှိတော့ချေ။ သို့ရာတွင် ဒုတိယအမျိုးအစားဖြစ်သော အခွင့်အရေးများကို ခွင့်လွှတ်လိုက်သည်ရှိသော် သို့ ခွင့်လွှတ်ပြီးသည့် နောက်ပိုင်းတွင် ပြန်လည်တောင်းဆိုပိုင်ခွင့်ရှိပေသည်။

(၁) ကုရ်အာန်ကျမ်းမြတ်(၄း၃)တွင် ညီတူညီမျှ ထားနိုင်ပါက ဇနီးမိန်းမလေးယောက်အထိ ယူပိုင်ခွင့် ➤➤

غَفُوْرًا رَّحِيْمًا ﴿١٢٩﴾

သို့ရာတွင် အကယ်၍ အသင်တို့သည် (ဇနီးမိန်းမတို့နှင့် ပတ်သက်၍ မိမိတို့၏ ချွတ်ယွင်းချက်များကို) ပြုပြင်၍ (တစ်ဘက်သက် ဇနီးမိန်းမတဦးဦးဘက်သို့ ယိမ်းယိုင်ခြင်းမှ) ဆင်ခြင်ကြပါမူ အလ္လာဟ်အရှင်မြတ်သည် မလွဲဧကန် အကြိမ်ကြိမ်လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ ရှိသည့်အကြောင်း ပါရှိ၏။ ယခု ဤမုကဒ္ဒပါဠ်တော် (၄း၁၂၉)တွင် လင်ခင်ပွန်းများသည် ဇနီးမိန်းမများအား ညီတူညီမျှ အလျင်းထားနိုင်ကြမည် မဟုတ်ကြောင်း၊ မိန့်ဆိုထားတော်မူ၏။ အထက်ပါ မုကဒ္ဒပါဠ်တော်နှစ်ရပ်လုံးတွင် ညီတူညီမျှ ဟူသော အနက်ပေးသည့် စကားပါရှိ၏။ သို့ရာတွင် သဘောချင်းကား ခြားနား၏။ (၄း၃) တွင် ပါရှိသာ ညီတူညီမျှဟူသည် ကျွေးမွေးမှု၊ ဆင်ယင်မှု၊ နေထိုင်မှုစသည့် လူသားတို့ ပြုစွမ်းနိုင်သော ကိစ္စများတွင် ညီတူညီမျှ ပြုခြင်းကို ဆိုလိုသည်။ (၄း၁၂၉) တွင် လင်ခင်ပွန်းများသည် ညီတူညီမျှ အလျင်းမပြုနိုင်ကြောင်း မိန့်ဆိုထားတော်မူသည်မှာ လင်ခင်ပွန်းများသည် ဇနီးမိန်းမများအား မေတ္တာထားရာတွင် ညီတူညီမျှ မပြုနိုင်ကြမည်ကို ဆိုလိုသည်။ လင်ခင်ပွန်းများကို မဆိုထားဘိ၊ မိဘများသည်ပင်လျှင် မိမိတို့၏ သားသမီးများကို တမျိုးတစားတည်း မချစ်ခင်နိုင်ကြပေ။

အချို့ခေတ်သစ် သာသနာဖျက်တို့သည် ဤမုကဒ္ဒပါဠ်တော်ကို အကြောင်းပြု၍ ကုရ်အာန်ကျမ်းမြတ်သည် ဇနီးမိန်းမတို့ စပ်ကြားတွင် မျှတမှု အလျင်းမဖြစ်နိုင်ကြောင်း၊ တရားမျှတမှု ရှိမှသာလျှင် မိန်းမတစ်ယောက်မှ မိန်းမလေးယောက်အထိ ယူနိုင်ခွင့်ပြုထားကြောင်း၊ ယင်းသို့အားဖြင့် ကုရ်အာန်ကျမ်းမြတ်တွင် မိန်းမလေးယောက်အထိ ယူနိုင်ခွင့်ပြုပြီးနောက် ပြန်လည် ရုပ်သိမ်းထားကြောင်းဖြင့် ပြောဆိုကြသည်။ ဤသို့ပြောဆိုခြင်းမှာ မသိ၍ ပြောဆိုကြသည်ပင် ဖြစ်စေကာမူ ယင်းသို့ပြောဆိုခြင်းမှာ ကုရ်အာန်ကျမ်းမြတ်ကို အကြီးအကျယ် စော်ကားရာ ရောက်ပေသည်။ ပြီးနောက် ကုရ်အာန်ကျမ်းမြတ်နှင့် ပတ်သက်၍ ယင်းကျမ်းမြတ်သည် မိမိ တားဆီးပိတ်ပင်လိုသောအရာကို တိုက်ရိုက်မပိတ်ပင်ဘဲ အကြောင်းမဲ့ ခက်ရာခဲဆစ် ရှုတ်ထွေးလှသော လမ်းစဉ်တရပ်ကို ကျင့်သုံးသည်ဟု စွပ်စွဲရာလည်း ရောက်ပေသည်။

ကြည့် မာဂျိဒီ။ အ-၁၊ စ-၂၁၉။ အောက်ခြေအမှတ်-၇၅၇။

⑴ လင်ခင်ပွန်းများသည် မိမိချစ်ခင်စုံမက်သော ဇနီးမိန်းမဘက်သို့ လုံးဝယိမ်းယိုင်ပြီး မေတ္တာမဲ့သော အခြားဇနီးအား လင်ရှိ ဇနီးအရာ၌လည်းမထား၊ ကွာရှင်းသည်လည်းမပြုဘဲ လင်ရှိမုဆိုးမ ဆိုသကဲ့သို့ တွဲလဲထားကြသည်။ ဇနီးသည်အား တွဲလဲထားခြင်းသည် အဆိုးရွားဆုံးသော အပြုအမူတရပ်ဖြစ်သည်။ သို့ဖြစ်ပေရာ လင်ခင်ပွန်းများသည် ဇနီးမိန်းမများနှင့် ပတ်သက်သော တာဝန်အရပ်ရပ်ကို တတ်စွမ်းနိုင်သမျှ ကျေပြွန်စွာ ထမ်းဆောင်ရပေမည်။ မထမ်းဆောင်နိုင်သည့်အဆုံးတွင် ဇနီးမိန်းမအား တွဲလဲမထားဘဲ တရားတော်နှင့် အညီ ကွာရှင်းရမည်။ ရှု-မာဂျိဒီ၊ အတွဲ - ၁။ အောက်ခြေအမှတ် - ၇၅၉။

وَاِنۡ يَّتَفَرَّقَا يُغۡنِ اللّٰهُ كُلًّا مِّنۡ سَعَتِهٖ‌ؕ وَكَانَ اللّٰهُ وَاسِعًا حَكِيۡمًا ﴿١٣٠﴾

၁၃၀။ သို့ရာတွင် အကယ်၍ ထို (ဇနီးမောင်နှံ) နှစ်ဦးတို့သည် (မိမိတို့အချင်းချင်းသင့်မြတ်နိုင်ခြင်းငှာ နည်းလမ်းမရှိတော့၍) ကွာရှင်းခွဲခွာကြပါမူ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ များပြားသော ကျေးဇူးတော်ဖြင့် (ယင်းဇနီးမောင်နှံ နှစ်ဦးတို့အား) တဦးကိုတဦး မတောင့်တ မကြောင့်ကြရအောင် ပြုလုပ်ပေးတော်မူအံ့။

အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အလွန်ပေါများကြွယ်ဝတော်မူသော ကျေးဇူးတော်ရှင်၊ ကျိုးကြောင်းဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်မြတ် ဖြစ်တော်မူပေသတည်း။

وَلِلّٰهِ مَا فِى السَّمٰوٰتِ وَمَا فِى الۡاَرۡضِ‌ؕ وَلَقَدۡ وَصَّيۡنَا الَّذِيۡنَ اُوۡتُوا الۡكِتٰبَ مِنۡ قَبۡلِكُمۡ وَاِيَّاكُمۡ اَنِ اتَّقُوا اللّٰهَ‌ؕ وَاِنۡ تَكۡفُرُوۡا فَاِنَّ لِلّٰهِ مَا فِى السَّمٰوٰتِ وَمَا فِى الۡاَرۡضِ‌ؕ وَكَانَ اللّٰهُ غَنِيًّا حَمِيۡدًا ﴿١٣١﴾

၁၃၁။ ထို့ပြင်တဝ အာကာသ ကောင်းကင်များ၌ ရှိရှိသမျှသော အရာဝတ္ထုများကိုလည်းကောင်း၊ ပထဝီမြေကြီး၌ ရှိရှိသမျှသော အရာဝတ္ထုများကိုလည်းကောင်း၊ အလ္လာဟ်အရှင်မြတ်သာ ပိုင်ဆိုင်တော်မူ၏။

မုချဧကန် ငါအရှင်မြတ်သည် အသင်တို့အလျင် ကျမ်းဂန်ရရှိပြီးဖြစ်သောသူတို့ကိုရင်း၊ အသင်တို့ကိုရင်း၊ ‘အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြကုန်လော့’ ဟု အမိန့်ပေးတော်မူခဲ့၏။

သို့ရာတွင် အကယ်၍သာ အသင်တို့သည် မယုံမကြည် သွေဖည်ငြင်းပယ်ကြပါမူ (အလ္လာဟ်အရှင်မြတ်၌ မည်သို့မျှ အကျိုးယုတ်နစ်နာမှု ရှိမည်မဟုတ်၊ အသင်တို့၌သာ အကျိုးယုတ်နစ်နာမှုရှိအံ့။ အဘယ်ကြောင့်ဆိုသော်) အာကာသ ကောင်းကင်များနှင့် ပထဝီမြေကြီး၌ ရှိရှိသမျှတို့ကို အလ္လာဟ်အရှင်မြတ်သာ ပိုင်ဆိုင်တော်မူသောကြောင့်တည်း။

ၒင်းပြင် အလ္လာဟ် အရှင်မြတ်သည် လိုလား တောင့်တခြင်း ကင်းမဲ့တော် မူသောအရှင် ချီးမွမ်း ထောပနာခြင်းအပေါင်းကို ခံထိုက်တော်မူသောအရှင် ဖြစ်တော်မူသတည်း။

وَلِلّٰهِ مَا فِى السَّمٰوٰتِ وَمَا فِى الْاَرْضِ ؕ وَكَفٰى بِاللّٰهِ وَكِيْلًا ﴿١٣٢﴾

၁၃၂။ အမှန်စင်စစ် အာကာသ ကောင်းကင်များနှင့် ပထဝီမြေကြီး၌ ရှိရှိသမျှတို့ကို အလ္လာဟ်အရှင်မြတ် သာ ပိုင်ဆိုင်တော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ် သည်ပင်လျှင် ကိစ္စအဝဝကို ပြီးစီးအောင် စီမံပြုလုပ် ပေးတော်မူသော အရှင်မြတ်အဖြစ် လုံလောက်တော် မူသောအရှင် ဖြစ်တော်မူသည်။

اِنْ يَّشَاْ يُذْهِبْكُمْ اَيُّهَا النَّاسُ وَيَاْتِ بِاٰخَرِيْنَ ؕ وَكَانَ اللّٰهُ عَلٰى ذٰلِكَ قَدِيْرًا ﴿١٣٣﴾

၁၃၃။ အို-လူအပေါင်းတို့၊ အကယ်၍သာ ထို အရှင်မြတ်သည် အလိုရှိတော်မူပါလျှင် အသင်တို့ အား ပယ်ရှား (ဖျက်ဆီး)တော် မူ၍ (အသင်တို့ ၏အစား) အခြားသူတို့ကို ဖြစ်ထွန်းစေတော် မူ အံ့ အမှန်စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည် ယင်းသည့်ကိစ္စကို စွမ်းဆောင်တော်မူနိုင်သော အရှင် မြတ်ပင် ဖြစ်တော်မူပေ၏။

مَنْ كَانَ يُرِيْدُ ثَوَابَ الدُّنْيَا فَعِنْدَ اللّٰهِ ثَوَابُ الدُّنْيَا وَالْاٰخِرَةِ ؕ وَكَانَ اللّٰهُ سَمِيْعًا بَصِيْرًا ﴿١٣٤﴾

၁၃၄။ မည်သူမဆို မျက်မှောက် လောကီဘဝ၏ အကျိုးကို(သာ) အလိုရှိပါမူ၊ (ထိုသူသည် အသိ အလိမ္မာကင်းမဲ့သူဖြစ်၏။ အဘယ်ကြောင့်ဆိုသော်) အလ္လာဟ်အရှင်မြတ်အထံတော်၌ မျက်မှောက်လောကီ ဘဝနှင့် နောင်တမလွန်ဘဝ (နှစ်ဘဝလုံး)၏ အကျိုး ကျေးဇူးသည်ရှိ၏။ ၎င်းပြင် အလ္လာဟ် အရှင်မြတ် သည် (လျှောက်ထား ပန်ကြားချက် အလုံးစုံတို့ကို) အကြွင်းမဲ့ကြားသိတော်မူသောအရှင်၊ (လူခပင်းတို့၏ စိတ်စေတနာများကို) အကြွင်းမဲ့ ခွဲခြားသိမြင်တော် မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

يَاَيُّهَا الَّذِيْنَ اٰمَنُوْا كُوْنُوْا قَوّٰمِيْنَ بِالْقِسْطِ شُهَدَآءَ لِلّٰهِ وَلَوْ عَلٰٓى اَنْفُسِكُمْ اَوِ الْوَالِدَيْنِ وَالْاَقْرَبِيْنَ ۚ اِنْ يَّكُنْ غَنِيًّا اَوْ فَقِيْرًا فَاللّٰهُ اَوْلٰى بِهِمَا ۣ فَلَا تَتَّبِعُوا

၁၃၅။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် (မည်သည့်ကိစ္စမျိုး၌မဆို) တရားမျှတမှုကို ထာဝစဉ် တည်တံ့စေသူများ (တနည်း) *တရားမျှတမှုအပေါ်၌ မြဲမြံစွာ တည်တံ့သူများ ဖြစ်ကြလေကုန်။* [၁] (သက်သေခံရာ၌လည်း) မိမိတို့ကိုယ်ကျိုးနှင့်ဆန့်ကျင်သည်ဖြစ်စေ၊ မိဘနှစ်ပါးနှင့်ဆန့်ကျင်သည်ဖြစ်စေ၊ ဆွေမျိုးနီးစပ်တို့နှင့် ဆန့်ကျင်*သည်ဖြစ်စေ၊* [၂] (အသင်တို့သည်) *အလ္လာဟ်အရှင်မြတ်ကိုသာ ထောက်ထား၍ (တိကျမှန်ကန်စွာ) သက်သေခံသူများပင်* [၃] ဖြစ်ကြလေကုန်။

---

(၁) လူ့သက်တမ်း တလျှောက်လုံးတွင် အချင်းချင်း ပြုလုပ်ကြသည့် အရောင်းအဝယ်၊ အပေးအယူ၊ အပြောအဆို၊ အဆုံးအဖြတ်၊ စသည့် အမှုကိစ္စအဝဝတွင် တရားမျှတမှုကို အထူးတလည်အစဉ် ရှေ့ရှုကြရမည့် အကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် အကြိမ်ကြိမ် အဖန်ဖန် သတိပေးနှိုးဆော်ထားတော်မူသည်။

(၂) သူစိမ်းတစ်ဦးဦးကို ဆန့်ကျင်၍ သက်သေထွက်ဆိုရန် မခဲယဉ်းလှသော်လည်း မိမိကိုယ်နှင့် ဆန့်ကျင်၍သော်၎င်း၊ မိဘနှစ်ပါးနှင့် ဆန့်ကျင်၍သော်၎င်း၊ သားချင်းတို့နှင့် ဆန့်ကျင်၍သော်၎င်း၊ မှန်ကန်စွာ သက်သေထွက်ဆိုရန်မှာကား ပြုနိုင်ခဲသော ကိစ္စပင်ဖြစ်၏။

ထို့အတွက်ကြောင့်ပင်လျှင် အလ္လာဟ်အရှင်မြတ်က ဤမုကဒ္ဒပါဌ်တော်တွင် မုအ်မင်န်တို့သည် မှန်ကန်စွာ သက်သေထွက်ဆိုရာတွင် သူတပါးကို မဆိုထားဘိ မိမိကိုယ်နှင့် တကွ မိဘသားချင်းများကိုပင်လျှင် မငဲ့ကွက် မထောက်ထားဘဲ မှန်ကန်စွာ သက်သေထွက်ဆိုရမည့်အကြောင်း မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို လက်တွေ့ လိုက်နာကျင့်သုံးသော မွတ်စ်လင်မ်တစ်ဦးသည် အဘယ်ကိစ္စ အဘယ်အခါ၌မျှ မုသားပြောဆိုမည်မဟုတ်ပေ။ အမှန်သော်ကား 'မွတ်စ်လင်မ်'နှင့် 'မုသား' သည် ဆက်စပ်၍ပင် မဖြစ်နိုင်။

(၃) သက်သေထွက်ဆိုရန် အကြောင်းပေါ်ပေါက်လာပါက အလ္လာဟ်အရှင်မြတ်၏ ရှေ့မျက်နှာတော်ကို ထောက်ထားကာ၊ ထိုအရှင်မြတ်၏ ချစ်ကြည်မြတ်နိုးမှုကို လိုလားကာ ထိုအရှင်မြတ်၏ ကုသိုလ်အကျိုးကို တောင့်တကာ မှန်ကန်စွာ သက်သေထွက်ဆိုကြရပေမည်။ ရှု - ကုရ်တုဗီ။

အချို့ပညာရှင်များက 'ရှုဟဒါအလိလ္လာဟိ' ၏ အနက်ကို 'အလ္လာဟ်အရှင်မြတ်၏ သက်သေတော်များ ဖြစ်ကြကုန်' ဟူ၍ ဖွင့်ဆိုကြသည်။ ဆိုလိုသည်ကား မှန်ကန်စွာ သက်သေထွက်ဆိုသော သူများသည် အလ္လာဟ်အရှင်မြတ်၏ သက်သေတော်များပင် ဖြစ်ကြသည်ဟူလို။ (ရှု - မာဂျိဒီ။)

الْهَوٰٓى اَنْ تَعْدِلُوْا ۚ وَاِنْ تَلْوٗٓا اَوْ تُعْرِضُوْا فَاِنَّ اللّٰهَ كَانَ بِمَا تَعْمَلُوْنَ خَبِيْرًا ۝

အကယ်၍ (အသင်တို့က) ဆန့်ကျင်၍ သက်သေထွက်ဆို ရမည့်သူသည် ချမ်းသာကြွယ်ဝ သူပင်ဖြစ်စေ၊ ဆင်းရဲသူပင်ဖြစ်စေ (မည်သို့ပင် ဖြစ်စေကာမူ) အလ္လာဟ်အရှင်မြတ်သည် (အသင်တို့ ထက်) ၎င်းတို့နှစ်ဦးလုံးနှင့် အနီးစပ်ဆုံးသောအရှင် ဖြစ်တော်မူပေ၏။ သို့ဖြစ်ပေရာ အသင်တို့သည် *တရားမျှတမှုမှ တိမ်းစောင်းမသွားကြရန်* [၁] စိတ်၏ အလိုဆန္ဒကို မလိုက်နာ မလိုက်စားကြကုန်လင့်။

သို့ရာတွင် အကယ်၍ အသင်တို့သည် (သက်သေခံရာတွင် လိမ်လည်) *ကွေ့ကောက် ပြောဆို ကြပါလျှင်၊ သို့တည်းမဟုတ်* (သက်သေခံခြင်းမှ လုံးဝ) *လွှဲဖယ် တိမ်းရှောင်ကြပါလျှင်* [၂] ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အသင်တို့ပြုမူသမျှတို့ကို အကြွင်းမဲ့ သိမြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော် မူပေသတည်း။ [၃]

---

(၁) မှသားသက်သေ ထွက်ဆိုရန် အကြောင်းတရားသည် များသောအားဖြင့် ၂ ခုသာရှိ၏။ (၁) မိမိဆန့်ကျင်၍ သက်သေထွက်ဆိုရမည့်သူသည် ချမ်းသာကြွယ်ဝသူတဦးဖြစ်လျှင် ထိုသူအား အားနာခြင်း။ ထောက်ထားခြင်း၊ မိမိအား ထိုချမ်းသာသူက ဖိနှိပ်မည်ကို စိုးရိမ်ခြင်းကြောင့် မှသားသက်သေထွက်ဆိုခြင်းကို ဖြစ်စေတတ်၏။ (၂) မိမိဆန့်ကျင်၍ သက်သေထွက်ဆိုရမည့် သူသည် ဆင်းရဲသားတဦးဖြစ်နေလျှင် ထိုဆင်းရဲသားကို သနားခြင်း၊ ငဲ့ညှာခြင်း များသည်လည်း မှသားသက်သေ ထွက်ဆိုခြင်းကို ဖြစ်စေတတ်၏။ ထို့အတွက်ကြောင့် အလ္လာဟ် အရှင်မြတ်က ဤမှုကွပါဋ္ဌ်တော်တွင် ချမ်းသာကြွယ်ဝသူကိုလည်း မထောက်ထားရမည့်အကြောင်း၊ ဆင်းရဲသား ကိုလည်း မငဲ့ညှာရမည့်အကြောင်း၊ အတည့်အလင်း မိန့်ဆိုထားတော်မူသည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ် အရှင်မြတ်သည် ထိုချမ်းသာသူနှင့်၎င်း ထိုဆင်းရဲသူနှင့်၎င်း ကျွန်ုပ်တို့လူသားတို့ထက် ပိုမို၍ နီးစပ်တော်မူသည်၊ ပိုမို၍ သက်ဆိုင်တော်မူသည်။ ယင်းကဲ့သို့ ပိုမို၍ နီးစပ်တော် မူသော သက်ဆိုင်တော် မူသော အရှင်ကပင်လျှင် မငဲ့ညှာ မထောက်ထားဘဲ သက်သေထွက်ဆိုရန် မိန့်ကြားတော်မူသည် ဖြစ်ရာ သာမန်မျှ နီးစပ်ပတ်သက်သော ကျွန်ုပ်တို့ လူသားတို့အဘို့မှာ မှန်ကန်စွာ ထွက်ဆိုရန်သာလျှင် အကြောင်းရှိပေသည်။ ငဲ့ညှာထောက်ထား၍ မှသားထွက်ဆိုရန်ကား အလျင်း အကြောင်းမရှိပေ။

(၂) သက်သေထွက်ဆိုရာတွင် လိမ်လည်ကွေ့ကောက်၍လည်း မထွက်ဆိုရ။ သက်သေထွက်ဆိုခြင်းမှ တိမ်းရှောင်၍ လည်း မနေရ။ သက်သေထွက်ဆိုရန် ရှိကတိမ်းရှောင်၍ မနေဘဲ တိကျမှန်ကန်စွာ သက်သေထွက်ဆိုရပေမည်။

يَاَيُّهَا الَّذِيْنَ اٰمَنُوْٓا اٰمِنُوْا بِاللّٰهِ وَرَسُوْلِهٖ وَالْكِتٰبِ الَّذِيْ نَزَّلَ عَلٰى رَسُوْلِهٖ وَالْكِتٰبِ الَّذِيْٓ اَنْزَلَ مِنْ قَبْلُ ۗ وَمَنْ يَّكْفُرْ بِاللّٰهِ وَمَلٰٓئِكَتِهٖ وَكُتُبِهٖ وَرُسُلِهٖ وَالْيَوْمِ الْاٰخِرِ فَقَدْ ضَلَّ ضَلٰلًاۢ بَعِيْدًا ﴿١٣٦﴾

**၁၃၆။** အို-သက်ဝင်ယုံကြည်သူ (မုအ်မင်န်)အပေါင်းတို့၊ အသင်တို့သည် အလ္လာဟ် အရှင်မြတ်ကိုရင်း၊ ထိုအရှင်မြတ်၏ ရစူလ် တမန်တော်မြတ် (မုဟမ္မဒ်) ကိုရင်း၊ ထိုအရှင်မြတ်က မိမိ၏ရစူလ်တမန်တော်မြတ်(မုဟမ္မဒ်) အပေါ်၌ ထုတ်ပြန်ပို့ချတော်မူခဲ့သော (ကုရ်အာန်) ကျမ်းတော်မြတ်ကိုရင်း (ယင်းကုရ်အာန်ကျမ်းတော်မြတ်)အလျင် ထုတ်ပြန်ပို့ချတော်မူခဲ့သော ကျမ်းတော်(များ)ကိုရင်း၊ *ယုံကြည်ကြလေကုန်။* [၁]

သို့ရာတွင် မည်သူမဆို အလ္လာဟ်အရှင်မြတ်ကိုသော်ရင်း၊ ထိုအရှင်မြတ်၏ "မလာအိကဟ်" အပါးတော်စေတမန်များကိုသော်ရင်း၊ ထိုအရှင်မြတ်၏ကျမ်းဂန်များ ကိုသော်ရင်း၊ ထိုအရှင်မြတ်၏ရစူလ်တမန်တော်များ ကိုသော်ရင်း၊ နောက်ဆုံးနေ့ကိုသော်ရင်း၊ ငြင်းပယ်ခဲ့ပါလျှင် ထိုသူသည် အလွန်ကမ်းလှမ်းဝေးကွာသော *လမ်းမှားသို့ မချွတ်ကေန်ရောက်ရှိခဲ့ချေပြီ၊* [၂]

---

(၃) လူသားတို့အချင်းချင်း လိမ်လည်လှည့်ဖြားနိုင်သော်လည်း အလ္လာဟ်အရှင်မြတ်ကိုကား မလှည့်ဖြားနိုင်ချေ။ အဘယ်ကြောင့်ဆိုသော် ထိုအရှင်မြတ်သည် လူသားတို့ပြုသမျှသော ကိစ္စအဝဝကို အကြွင်းမဲ့ သိတော်မူသော အရှင်ဖြစ်တော်မူသည်။ အလ္လာဟ်အရှင်မြတ်၏ သဗ္ဗညုတဉာဏ်တော်ကို ယုံကြည်သော အကြင်သူတဦးသည် မကောင်းမှုကို အသို့လျှင်ပြုဝံ့အံ့နည်း။ အဘယ်နည်းနှင့်မျှ ပြုနိုင်တော့မည်မဟုတ်ချေ။ ဤယုံကြည်ချက်သည် စိတ်နှလုံးအပေါ်တွင် အစောင့်အကြပ်တခုပင်ဖြစ်၏။ ဤယုံကြည်ချက်သည် ရင့်ကျက် လေသည်နှင့် အမျှ စိတ်နှလုံး၏ အစောင့်အကြပ်လည်း ပိုမိုပြင်းထန်လာမည်ဖြစ်၏။ စိတ်နှလုံး၏ အစောင့်အကြပ် ပြင်းထန်လာသည်နှင့်အမျှ အပြစ်ဒုစရိုက် ကင်းဝေးနေမည်မှာ မုချပင်ဖြစ်တော့သည်။

(၁) ဤမုက္ခပါဌ်တော်သည် အစ္စလာမ်သာသနာတော်ကို အကျဉ်းအားဖြင့် သက်ဝင်ယုံကြည်၍ မုအ်မင်န်တို့၏ ဘောင်တွင် ရောက်ရှိနေကြသော သူတို့အား ရည်ညွှန်း၍ မိန့်ဆိုထားတော်မူသော မုက္ခပါဌ်တော်ဖြစ်သည်။ ထိုသို့သော မုအ်မင်န်တို့အား အီမာန်ယုံကြည်ခြင်း သဒ္ဒါတရားနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ အီမာန်ယုံကြည်ရမည့် အချက်အလက် အားလုံးတို့ကို အတိအကျ အပြည့်အစုံ မှန်ကန်စွာ ယုံကြည်ရမည့်အကြောင်း ဤမုက္ခပါဌ်တော်တွင် မိန့်ဆိုထားတော်မူသည်။ ရှု - မာဂျိဒီ။ ထာနဝီ။ ကုရ်တုဗီ။

إِنَّ الَّذِينَ آمَنُوا ثُمَّ كَفَرُوا ثُمَّ آمَنُوا ثُمَّ كَفَرُوا ثُمَّ ازْدَادُوا كُفْرًا لَّمْ يَكُنِ اللَّهُ لِيَغْفِرَ لَهُمْ وَلَا لِيَهْدِيَهُمْ سَبِيلًا ﴿١٣٧﴾

**၁၃၇။** မုချဧကန် အကြင်သူတို့သည် 'အီမာန်' ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိကြ၏။ ထို့နောက် မယုံမကြည်သွေဖည်ငြင်းပယ်ကြပြန်၏။ ထို့နောက် တဖန်ပြန်၍ 'အီမာန်' ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိကြပြန်၏။ ထို့နောက် တဖန် မယုံမကြည် သွေဖည်ငြင်းပယ်ကြပြန်၏။ ထို့နောက် ၎င်းတို့သည် (အသက်ထက်ဆုံး) သွေဖည် ငြင်းပယ်မှု၌ပင် တိုးတက် နစ်မွန်းလျက် ရှိကြကုန်သည်။ အလ္လာဟ် အရှင်မြတ်သည် ထိုသူတို့အား အပြစ်မှ) လွတ်ငြိမ်း ချမ်းသာခွင့်လည်း ပေးသနားတော်မူမည် မဟုတ်ပေ။ ထိုသူတို့အား (ဂျန္နတ်) ရောက်ရာ ရောက်ကြောင်း လမ်းကိုလည်း ညွှန်ပြတော်မူမည် မဟုတ်ပေ။

بَشِّرِ الْمُنَافِقِينَ بِأَنَّ لَهُمْ عَذَابًا أَلِيمًا ﴿١٣٨﴾

**၁၃၈။** (အို-နဗီတမန်တော်)အသင်သည် 'မုနာဖစ်က်' အယောင်ဆောင် မွတ်စ်လင်မ်တို့အား ၎င်းတို့အဘို့ ပြင်းပြနာကျင်ဘွယ်ရာ အပြစ်ဒဏ်သည် (အဆင့်သင့်) ရှိသည်ဟု သတင်းကောင်းပြောကြားပါလေ။ [၁]

---

(၂) အီမာန်ယုံကြည်ရမည့် အချက်အလက်များကို အတိအကျအပြည့်အစုံ မှန်ကန်စွာယုံကြည်ရပေမည်။ မည်သည့် အချက်ကိုမျှမငြင်းပယ်ရပေ။ အဘယ်ကြောင့်ဆိုသော် အီမာန်ယုံကြည်ရမည့် အချက်အလက်များအနက် အချို့ကို ငြင်းပယ်ခြင်းသည် ယုံကြည်ရမည့်အချက်အားလုံးတို့ကို ငြင်းပယ်ရာရောက်သောကြောင့်ပင်တည်း။ (မဒါရိက်၊မာဂျိဒီ)

(၁) 'ဗရှ်ရှိရ်' သည် 'တဗ်ရှီရ်' ဟူသောပုဒ်မှ ဆင်းသက်လာသော ပုဒ်ဖြစ်၏။ ယင်းပုဒ်၏အဓိပ္ပါယ်မှာ များသောအားဖြင့် ဝမ်းမြောက်ဘွယ်ရာ သတင်းစကား ပြောကြားခြင်းဟူ၍ ဖြစ်၏။

သို့ရာတွင် ဤသို့အမြဲ မဟုတ်ချေ။ အဘယ်ကြောင့်ဆိုသော် အဘိဓာန်သဘောအရ မျက်နှာပေါ်တွင် အမှတ်အသား အရိပ်အရောင် ဖြစ်ပေါ်စေသော သတင်းစကား အားလုံးအတွက် (ထိုသတင်းစကားသည် ဝမ်းသာဘွယ်ရာ စကားဖြစ်စေ၊ ဝမ်းနည်းဘွယ်ရာ စကားဖြစ်စေ) အဆိုပါပုဒ်သည် အသုံးဖြစ်ချေသည်။

'တဗ်ရှီရ်' ဟူသည် မျက်နှာပေါ်တွင် အမှတ်အသား အရိပ်အရောင် ထင်ပေါ်စေသော အကြောင်းအရာနှင့် စပ်လျဉ်း၍ သတင်းပေးခြင်းဖြစ်သည်။ (ကုရ်တုဗီ) ၎င်းပြင် တနည်း ဤနေရာတွင် အဆိုပါပုဒ်ကို ခနဲ့စောင်းချိတ် နာကျည်း ထိခိုက်စေသည့်သဘောဖြင့် သုံးထားသည်ဟူ၍လည်း ယူဆနိုင်ပေသည်။ အဘယ်ကြောင့်ဆိုသော် အရဗီစာပေတွင် ဤသို့သောအသုံးအနှုန်းများကို အများအပြားတွေ့ရှိရပေသည်။ ဥပမာ-အသင်၏ နှုတ်ခွန်းဆက်သခြင်းသည် ရိုက်ခြင်းပင်ဖြစ်၏။မာဂျိဒီ။ အတွဲ - ၁။ စာမျက်နှာ ၂၂၂။

ٱلَّذِينَ يَتَّخِذُونَ ٱلْكَٰفِرِينَ أَوْلِيَآءَ مِن دُونِ ٱلْمُؤْمِنِينَ ۚ أَيَبْتَغُونَ عِندَهُمُ ٱلْعِزَّةَ فَإِنَّ ٱلْعِزَّةَ لِلَّهِ جَمِيعًا ﴿١٣٩﴾

၁၃၉။ အကြင် ('မုနာဖစ်က်' အယောင်ဆောင် မွတ်စ်လင်မ်) တို့သည် 'မုအ်မင်န်' တို့အား စွန့်လွှတ်ပြီး 'ကာဖိရ်' တို့ကို *အဆွေခင်ပွန်းများ ပြုလုပ်ကြလေ သည်။* [၁]

ငင်းတို့သည် ထို'ကာဖိရ်'တို့ထံတွင် ဂုဏ်အင်ဒြဗ်ရှာဖွေကြလေသလော။ သို့ဖြစ်လျှင် ဂုဏ်အင်ဒြဗ် ဟူသမျှတို့သည် မုချဧကန် အလ္လာဟ်အရှင်မြတ် အတို့ချည်းသာတည်း။ (ပိုင်ဆိုင်သည်သာတည်း။)

وَقَدْ نَزَّلَ عَلَيْكُمْ فِى ٱلْكِتَٰبِ أَنْ إِذَا سَمِعْتُمْ ءَايَٰتِ ٱللَّهِ يُكْفَرُ بِهَا وَيُسْتَهْزَأُ بِهَا فَلَا تَقْعُدُوا۟ مَعَهُمْ حَتَّىٰ يَخُوضُوا۟ فِى حَدِيثٍ غَيْرِهِۦٓ ۚ إِنَّكُمْ إِذًا

၁၄၀။ ငင်ပြင် ဧကန်မလွဲ ထိုအရှင်မြတ်သည် အသင်တို့အပေါ်၌ (ကုရ်အာန်) ကျမ်းတော်မြတ်တွင် ဤသို့(အမိန့်တော်) ထုတ်ပြန် ချမှတ်တော်မူခဲ့လေ သည်။ မည်သည့်အခါမျိုးမဆို အသင်တို့သည် (ကာဖိရ်သွေဖည်ငြင်းပယ်သောသူတို့က) *အလ္လာဟ် အရှင်မြတ်၏လက္ခဏာတော်များကို* [၂] ငြင်းပယ်ကြ သည်ကိုလည်းကောင်း၊ ပြက်ရယ်ပြောင်လှောင်ကြ သည်ကိုလည်းကောင်း၊ ကြားကြရပါလျှင်၊ ယင်း (ငြင်းပယ်ပြောင်လှောင်သော)သူတို့သည် ထိုစကား ကိုစွန့်၍ အခြားစကားများတွင် အာရုံမစူးစိုက်သမျှ ကာလပတ်လုံး အသင်တို့သည် *ငင်းတို့နှင့်အတူ မထိုင်ကြကုန်အံ့။* [၃] သို့ထိုင်ကြပါလျှင် အသင်တို့ သည်လည်း ထိုသူတို့ကဲ့သို့ပင် (အပြစ်ရှိသူများ) ဖြစ်သွားကြကုန်အံ့။

(၁) 'မုနာဖစ်က်' တို့သည် 'မုအ်မင်န်' တို့အား ရိုးသားဖြောင့်မတ်စွာဖြင့် စိတ်နှလုံးအတွင်းမှ ချစ်ကြည်မြတ်နိုးရန် ထားဘိဦး၊ မျက်မြင်အားဖြင့် အပေါ်ရံ သာမန်ဆက်ဆံမှုကိုပင် မထားနိုင်ခဲ့ကြပေ။ ဤမျှမကသေး ယင်းသူတို့သည် မုအ်မင်န်တို့အား သူစိမ်းပြင်ပြင် ဖဲကြဉ်ကြ၏။ ကာဖိရ်များနှင့်မူ မိတ်ဖွဲ့လျက်ရှိကြ၏။ အမှန်အားဖြင့် မုနာဖစ်က်တို့သည် အခြေအနေအရ မွတ်စ်လင်မ် အယောင်ဆောင်နေကြသော ကာဖိရ်များသာလျှင် ဖြစ်ကြပေရာ သမဏေဏ သမဏော၊ ဂေါဏော ဆိုသကဲ့သို့ မုနာဖစ်က်တို့သည် ကာဖိရ်တို့နှင့် ပူးပေါင်းကြသည်မှာ ဓမ္မတာပင်ဖြစ်ပေသည်။ ▷▷

مِّثْلُهُمْ ۗ إِنَّ اللَّهَ جَامِعُ

အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် 'မုနာဖစ်က်' အယောင်ဆောင် မွတ်စ်လင်မ်တို့နှင့် 'ကာဖိရ်' မယုံမကြည် သွေဖည်ငြင်းပယ်သော သူတို့အားလုံးကို 'ဂျဟန္နမ်' ငရဲဘုံတွင် ၁ စုပေါင်းတော်မူမည့် အရှင်ဖြစ်တော်မူပေသတည်း။ ၂

---

➤➤ **ဓမ္မသတ်။**

ဤမုက္ခပါဠ်တော်ကို ကိုးကား၍ 'ဖုကဟာ' ဓမ္မသတ်ရှင်များက "အကြောင်းမရှိဘဲလျက် ကာဖိရ်တို့နှင့် ရောနှောခြင်း၊ ယင်းသူတို့၏ အပြုအမူကဲ့သို့ ပြုမူခြင်း၊ ယင်းသူတို့ ဝတ်ဆင်သကဲ့သို့ ဝတ်ဆင်ခြင်း၊ ယင်းသူတို့နှင့် အပေါင်းအဘော်ပြုခြင်း၊ ယင်းသူတို့၏ ယဉ်ကျေးမှုများကို ဂုဏ်ရှိသောအရာများဟူ၍ ထင်မှတ်ခြင်းများသည်လည်း မုနာဖစ်က်ဖြစ်ခြင်း၏ အကြောင်းများတွင် အကျုံးဝင်သည်' ဟုဆုံးဖြတ်ကြလေသည်။ (မာဂျိဒီ။ အ-၁၈-၂၂၂)

② ဤမုက္ခပါဠ်တော်တွင် ပါရှိသော 'အလ္လာဟ်အရှင်မြတ်၏ အာယသ်များ' ဟူသည် ကုရ်အာန်ကျမ်းလာမုက္ခပါဠ်တော်များကိုလည်း ဆိုနိုင်၏။ အလ္လာဟ်အရှင်မြတ်၏ နိမိတ်လက္ခဏာတော် များကိုလည်း ဆိုနိုင်၏။ ကြည့်-မာဂျိဒီ။

မက္ကာမြို့တွင် အလ္လာဟ်အရှင်မြတ်၏ အာယသ်တော်များကို ငြင်းပယ်ပြက်ရယ်သော သူများသည် မုရှ်ရစ်က်များဖြစ်ကြသည်။ မဒီနာမြို့တွင် ထိုအရှင်မြတ်၏ အာယသ်တော်များကို ငြင်းပယ်ပြက်ရယ်သော သူများကား ယဟူဒီများနှင့် မုနာဖစ်က်များဖြစ်ကြသည်။

③ ကာဖိရ်တို့အား မိတ်ဆွေမပြုလုပ်ရမည့်အကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် အမိန့်တော်လာရှိ၏။ ကြည့်ကုရ်အာန် (၃း၁၃၃)။ အကယ်၍ ကာဖိရ်တို့သည် 'ကုဖ်ရ်' သွေဖည်ငြင်းပယ်မှုများကို ပြုလုပ်ပြောဆိုကြသည့် အချိန်အခါမျိုးဖြစ်လျှင် ယင်းကာဖိရ်တို့နှင့် မျက်မြင်အားဖြင့် အတူပင် မထိုင်ရမည့်အကြောင်း ဤမုက္ခပါဠ်တော်တွင် မိန့်ဆိုထားတော်မူသည်။

က။ ကာဖိရ်တို့နှင့် အတူထိုင်ခြင်းသည် အမျိုးမျိုးရှိ၏။ 'ကုဖ်ရ်' သွေဖည်ငြင်းပယ်မှုများကို ကျေနပ်၍ ယင်းကာဖိရ်တို့နှင့် အတူထိုင်ခြင်းသည် 'ကုဖ်ရ်' ဖြစ်၏။

ခ။ 'ကုဖ်ရ်' သွေဖည်ငြင်းပယ်မှုများကို ပြုလုပ်ပြောဆိုနေသည့် အချိန်အခါမျိုးတွင် ယင်းကာဖိရ်တို့နှင့် အတူထိုင်ခြင်းသည် 'မက်ရှုတ်' ဖြစ်၏။ အကြောင်းမဲ့ဖြစ်က 'ဖစ်က်' ဖြစ်၏။

ဂ။ လောကီရေး ကိစ္စတစ်စုံတရာအတွက် ကာဖိရ်တို့နှင့် အတူထိုင်ခြင်းသည် 'မုဗါတ်' ဖြစ်၏။ ပြုပိုင်၏။

ဃ။ အစ္စလာမ် တရားဓမ္မ ဟောကြားရန်အတွက် ကာဖိရ်တို့နှင့် အတူထိုင်ခြင်းသည် 'အိဗာဒါတ်' ဖြစ်၏။

င။ အနိုင်အထက် အဓမ္မအဖြစ်မျိုးဖြင့် ကာဖိရ်တို့နှင့်အတူ ထိုင်ခြင်းသည် 'မအ်ဇူရ်' ဖြစ်၏။ (အပြစ်မရှိချေ) (ထာနဝီ) အတွဲ - ၂။ စာမျက်နှာ ၁၆၆။

① မုနာဖစ်က်တို့သည်ဤပစ္စုပ္ပန်လောကတွင်သာ မွတ်စ်လင်မ်အယောင်ဆောင်ပြီး မွတ်စ်လင်မ်တို့နှင့် ➤➤

الْمُنٰفِقِيْنَ وَالْكٰفِرِيْنَ فِيْ جَهَنَّمَ جَمِيْعًا ﴿١٤٠﴾

တနည်း။ . . .

ငင်းပြင် မည်သည့်အခါမဆို (ကာဖိရ်)တို့က *အရှင်မြတ်၏မုက္ခပါဠ်တော်ကို* ငြင်းပယ်ကြသည်ကိုငင်း၊ ပြောင်လှောင်ကြသည်ကိုငင်း၊ (သင်တို့) တွေ့မြင်ကြားသိရလျှင် ထိုသူတို့သည် ယင်းစကားအပြင် အခြားစကားဘက်သို့ အာရုံမပြောင်းကြသမျှ ကာလပတ်လုံး အသင်တို့သည် ငင်းတို့နှင့်အတူ ထိုင်မနေကြကုန်လင့်။ (သင်တို့သည် အကယ်၍သာ) ထိုသူတို့နှင့်အတူ ထိုင်နေကြပါလျှင် အသင်တို့သည်လည်း ထိုသူတို့ကဲ့သို့ပင် ဖြစ်သွားကြကုန်လတ္တံ့။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်တွင် သင်တို့အား မိန့်ဆိုထုတ်ပြန် ချမှတ်တော်မူထား၏။

ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် (မုနာဖစ်က်)တို့နှင့် ကာဖိရ်တို့ကို ဂျဟန္နမ်တွင် စုပေါင်းထားတော်မူမည့်အရှင် ဖြစ်တော်မူ၏။

---

➤➤ ရောနေ့ောကာ စည်းမျဉ်းအရ မွတ်စ်လင်မ်တို့၏ အခွင့်အရေးများကိုပင် ရယူနိုင်ခဲ့ကြသော်လည်း ကိယာမတ်နေ့တွင်ကား ယင်းသူတို့သည် ဤသို့အလျင်းပြုနိုင်ကြမည်မဟုတ်။

ယင်းသူတို့ ဖုံးကွယ်ထားသော 'ကုဖ်ရ်' သည် ထိုနေ့တွင် ထင်ရှားပေါ်လွင်သွားပေမည်။ မွတ်စ်လင်မ်တို့နှင့် တခြားစီဖြစ်သွားကြပေမည်။ မွတ်စ်လင်မ်တို့သည် ဂျန္နတ်သို့ လားကြ၍ မုနာဖစ်က်တို့ကား ဂျဟန္နမ်သို့ လားကြမည်။ (မာဂျိဒီ)

① ဤမုက္ခပါဠ်တော်သည် မဒီနာမြို့၌ ကျရောက်သော မုက္ခပါဠ်တော်ဖြစ်သည်။ ဤမုက္ခပါဠ်တော်တွင် ပါရှိသော အမိန့်တော်ကို ယခင် မက္ကာမြို့တွင် ထုတ်ပြန်ပို့ချထားတော်မူခဲ့ဘူး၏။ ကြည့်-ကုရ်အာန် (၆:၆၈)၊

အမိန့်တော်တရပ်တည်းကို မက္ကာမြို့တွင်တကြိမ်၊ မဒီနာမြို့တွင်တကြိမ်၊ နှစ်ကြိမ် ထုတ်ပြန်ပို့ချတော်မူခြင်းကို ထောက်ရှုဆင်ခြင်ခြင်းအားဖြင့် အဆိုပါအမိန့်တော်သည် အဘယ်မျှလေးနက်သည်ကို ကောင်းစွာ သိနိုင်ပေသည်။

အခြားစကားများတွင် အာရုံမစူးစိုက်သမျှ ကာလပတ်လုံးအသင်တို့သည် ငင်းတို့နှင့် အတူထိုင်၍ မနေကြကုန်လင့်။ သို့ ထိုင်၍ နေကြပါလျှင် အသင်တို့ သည်လည်း ထိုသူတို့ ကဲ့သို့ပင် (အပြစ်ရှိသူများ) ဖြစ်သွားကြကုန်အံ့။ ➤➤

إِلَّذِينَ يَتَرَبَّصُونَ بِكُمْ فَإِن
كَانَ لَكُمْ فَتْحٌ مِّنَ اللَّهِ قَالُوٓا
أَلَمْ نَكُن مَّعَكُمْ وَإِن كَانَ
لِلْكَٰفِرِينَ نَصِيبٌ قَالُوٓا
أَلَمْ نَسْتَحْوِذْ عَلَيْكُمْ
وَنَمْنَعْكُم مِّنَ الْمُؤْمِنِينَ
فَاللَّهُ يَحْكُمُ بَيْنَكُمْ يَوْمَ
الْقِيَٰمَةِ وَلَن يَجْعَلَ اللَّهُ
لِلْكَٰفِرِينَ عَلَى الْمُؤْمِنِينَ
سَبِيلًا ﴿١٤١﴾

**၁၄၁။** အကြင် ('မုနာဖစ်က်' အယောင်ဆောင် မွတ်စ်လင်မ်)တို့သည် အသင်တို့(၌ သက်ရောက်မည့် ဘေးဒုက္ခများ)ကို စောင့်မျှော်နေကြ၏။

အကယ်၍ အသင်တို့သည် အလ္လာဟ် အရှင်မြတ်အထံတော်မှ 'ဖေယျ'မင်္ဂလာ အောင်မြင်မှုကို ရရှိခဲ့ပါမူ ထိုသူတို့က 'ငါတို့သည်လည်း အသင်တို့ နှင့်အတူ ပါဝင်(ကူညီ)ခဲ့ကြသည် မဟုတ်လော' ဟု ပြောဆိုကြကုန်၏။

သို့ရာတွင် အကယ်၍ 'ကာဖိရ်' သွေဖည် ငြင်းပယ်သော သူတို့တွင် (အောင်နိုင်မှု) တစိတ် တဒေသ ဖြစ်သွားပါမူ ၎င်းတို့သည် (ယင်းသူတို့ထံ သွားရောက်ပြီးလျှင်) 'ငါတို့သည် (စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရာတွင်) အသင်တို့ကို အောင်နိုင်မည့်ဆဲဆဲ ဖြစ်ခဲ့ကြသည် မဟုတ်လော။ သို့ (အောင်နိုင်ခဲ့) ပါလျက် ငါတို့သည် အသင်တို့ကို (မွတ်စ်လင်မ်တို့၏ ဘေးရန်တို့မှ လွတ်မြောက်ကြရန်) ကာကွယ်ခဲ့ကြ သည် မဟုတ်ပါလော' ဟု ပြောဆိုကြပြန်သည်။

သို့ဖြစ်ရကား အလ္လာဟ် အရှင်မြတ်သည် 'ကိယာမတ်' နေ့တွင် အသင်တို့၏စပ်ကြား၌ စီရင် ဆုံးဖြတ်တော်မူအံ့။

➤➤ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် 'မုနာဖစ်က်' အယောင်ဆောင် မွတ်စ်လင်မ်တို့နှင့် 'ကာဖိရ်' မယုံမကြည် သွေဖည်ငြင်းပယ်သော သူတို့အားလုံးကို 'ဂျဟန္နမ်' ငရဲဘုံတွင် စုပေါင်းတော်မူမည့် အရှင် ဖြစ်တော်မူပေသတည်း။

ဤ မုက္ခပါဋ်တော်သည် နောင်တမလွန် ဘဝကို ရည်ညွှန်း၍ မိန့်ဆိုထားတော် မူသော မုက္ခပါဋ်တော်ဖြစ်သည်။ ရှု - ထာနဝီ။

ငင်းပြင် အလ္လာဟ် အရှင်မြတ်သည် 'ကာဖိရ်' သွေဖည်ငြင်းပယ်သော သူတို့အား မွတ်စ်လင်မ်တို့ အပေါ်၌ (အောင်မြင် လွှမ်းမိုးနိုင်ခြင်းငှာ) မည်သည့် နည်းလမ်းကိုမျှ အလျှင်း ပေးတော်မူမည် မဟုတ်ချေ။

إِنَّ الْمُنٰفِقِيْنَ يُخٰدِعُوْنَ اللّٰهَ وَهُوَ خَادِعُهُمْ ۚ وَإِذَا قَامُوْٓا إِلَى الصَّلٰوةِ قَامُوْا كُسَالٰى ۙ يُرَآءُوْنَ النَّاسَ وَلَا يَذْكُرُوْنَ اللّٰهَ إِلَّا قَلِيْلًا ۝١٤٢

၁၄၂။ ဧကန်မလွဲ 'မုနာဖစ်က်' အယောင်ဆောင် မွတ်စ်လင်မ်တို့သည် *အလ္လာဟ်အရှင်မြတ်ကို လိမ်လည် လှည့်ဖြားကြကုန်၏။* [၁]

ထို အရှင်မြတ်သည်လည်း ငင်းတို့အား *လှည့်ဖြားတော်မူမည့် အရှင်မြတ်ပင်* [၂] ဖြစ်တော်မူပေသတည်း။ ငင်းပြင် ထိုသူတို့သည် 'ဆွလာဟ်' ဝတ်ပြုရန် ရပ်ကြရာ၌လည်း *ပျင်းရိစွာနှင့်၊* [၃] လူခပင်းတို့အား ပြစားရန် အတွက်သာလျှင် ရပ်ကြကုန်၏။ ထို့ပြင်တဝ ငင်းတို့သည် အလ္လာဟ် အရှင်မြတ်ကို အနည်းငယ်မျှ (လူကြားကောင်းအောင်) မှအပ အောက်မေ့ တသကြသည်မဟုတ်ပေ။

---

(၁) (က) 'မုနာဖစ်က်တို့သည် အလ္လာဟ် အရှင်မြတ်အား လှည့်ဖြားကြသည်' ဟူသော မုဗ္ဗပါဌ်တော်၏အလိုသဘောမှာ မုနာဖစ်က်တို့သည် အလ္လာဟ်အရှင်မြတ်၏ နဗီတမန်တော်နှင့် ထိုအရှင်မြတ်၏ အချစ်တော်များအား လှည့်ဖြားကြသည်ကို ဆိုလိုသည်။ အလ္လာဟ်အရှင်မြတ်၏ နဗီတမန်တော်နှင့် အချစ်တော်များအား လှည့်ဖြားခြင်းကို ထိုအရှင်မြတ်အား လှည့်ဖြားသည်ဟု မိန့်ဆိုထားခြင်း အကြောင်းမှာ နဗီတမန်တော်မြတ်အား ဆက်ဆံခြင်းသည် အလ္လာဟ်အရှင်မြတ်အား ဆက်ဆံခြင်းကဲ့သို့ပင် ဖြစ်၏။

ထို့အတွက်ကြောင့်လည်း ကုရ်အာန်ကျမ်းမြတ် (၄၈း၁၀) တွင် တမန်တော်မြတ်ထံ 'ဗိုင်အတ်' ပြုသော သူများသည် အလ္လာဟ်အရှင်မြတ်ထံ ဗိုင်အတ်ပြုသူများပင် ဖြစ်သည်ဟု မိန့်ဆိုထားတော်မူလေသည်။ ဤသို့ သုံးနှုန်း မိန့်ဆိုထားခြင်းမှာ မုနာဖစ်က်တို့ အပြုအမူ ယုတ်မာဆိုးသွမ်းခြင်းကိုငင်း၊ တမန်တော်မြတ်နှင့်တကွ မွတ်စ်လင်မ်များ၏ ဂုဏ်အင်္ဂါကြီးကဲ မြင့်မြတ်ခြင်းကိုငင်း၊ ထင်ရှားစေရန် ဖြစ်သည်။

အလ်မနာရ်၊ အတွဲ - ၅။ စာမျက်နှာ - ၄၆၈။

(ခ) မုနာဖစ်က်တို့သည် အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ပါသည်ဟု လိမ်လည် ပြောဆို၍ အလ္လာဟ်အရှင်မြတ်ကိုပင်လျှင် လှည့်ဖြားလိုကြပေသည်။ ယင်းသူတို့သည် ဤပစ္စုပ္ပန်တွင် လိမ်လည် လှည့်ဖြား၍ ဆက်ဆံမှု ရနေကြဘိသကဲ့သို့ နောင်တမလွန်ဘဝတွင်လည်း ဆက်ဆံမှုရကြလိမ့်မည်ဟု ထင်မှတ်နေကြသည်။ ဤကား ယင်းသူတို့၏ မိုက်မဲမှုပင်တည်း။ မာဂျိဒီ။ အ-၁၊ စ-၂၂၃။

مُّذَبْذَبِيْنَ بَيْنَ ذٰلِكَ ۖ لَآ
إِلٰى هٰٓؤُلَآءِ وَلَآ إِلٰى هٰٓؤُلَآءِ ۚ
وَمَنْ يُّضْلِلِ اللّٰهُ فَلَنْ
تَجِدَ لَهٗ سَبِيْلًا ﴿١٤٣﴾

၁၄၃။ (ယင်း 'မုနာဖစ်က်' အယောင်ဆောင်မွတ်စ်လင်မ်တို့သည်) 'အီမာန်' ယုံကြည်မှုနှင့် 'ကုဖ်ရ်' မယုံမကြည် သွေဖည်ငြင်းပယ်မှု၏ စပ်ကြားဝယ် (မည်သည့်ဘက်ကိုမျှ) အတိတကျ စိတ်ဆုံးဖြတ်နိုင်ခြင်းမရှိဘဲ၊ ထိုဘက်မရောက်၊ ဤဘက်မရောက် (သို့လော၊ သို့လော ယုံမှား သံသယတည်းဟူသော ဝိစိကိစ္ဆာ စိတ်နှစ်ခွထားရှိသူများ) ဖြစ်နေကြကုန်၏။

အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် မည်သူ့ကိုမဆို လမ်းမှား၌ ထားရှိတော်မူပါလျှင် အသင်သည် ထိုသူ၏အဘို့ မည်သည့်နည်းလမ်းကိုမျှ အလျှင်း တွေ့ရှိမည်မဟုတ်ချေ။

---

(၂) "ထိုအရှင်မြတ်သည် ထိုသူတို့အား လှည့်ဖြားတော်မူသော အရှင်ဖြစ်တော်မူ၏" ဟူသော မုက္ခပါဌ်တော်၏ အလိုမှာ ထိုအရှင်မြတ်သည် ထိုသူတို့အား ထိုသူတို့၏ လှည့်ဖြားခြင်းကြောင့် အပြစ်ဒဏ်ခတ်တော်မူမည်ဟူ၏။ (ကဗီရ်)

(၃) မုနာဖစ်က်တို့တွင် 'အီမာန်' မရှိပေရာ ယင်းသူတို့သည် 'ဆွလာတ်' ဝတ်ပြုခြင်းကို အလ္လာဟ်အရှင်မြတ် သတ်မှတ် ပြဋ္ဌာန်းထားတော်မူသော 'ဖရသ္မ်' ဟူ၍လည်း မယူဆကြပေ။ ဆွလာတ်ဝတ်ပြုခြင်းအားဖြင့် ကုသိုလ်အကျိုး ရရှိသည်ကိုလည်း မယုံကြည်ကြပေ။ သို့ဖြစ်ရာ ယင်းသူတို့သည် အဘယ်မှာလျှင် ဆွလာတ် ဝတ်ပြုကြပေမည်နည်း။ ဆွလာတ် ဝတ်မပြုကြပေ။ သို့ရာတွင် မွတ်စ်လင်မ်တို့စပ်ကြားတွင် ရောက်ရှိ၍ မလွှဲမရှောင်သာသည့် အခါမျိုး၌ ရှက်ကိုးရှက်ကန်းဖြင့် ဝတ်ပြုကြရပြန်လျှင် ပြစားရန် အတွက်သာ ပျင်းရိစွာ ဆွလာတ် ဝတ်ပြုကြလေသည်။

ဆွလာတ် ဝတ်ပြုရာတွင် စိတ်ပါဝင်စားမှု၊ စိတ်၏ ကြည်လင်မှု၊ ဟဒယပျော်ရွှင်မှု၊ ကိုယ်ကာယ၏ သွက်လက်မှုသည် အီမာန် ယုံကြည်မှုအပေါ်၌ တည်ရှိပေသည်။ မုနာဖစ်က်တို့တွင် အီမာန်သည် စိုးစဉ်းမျှပင် မရှိပေရာ ယင်းသူတို့တွင် ဆွလာတ်ဝတ်ပြုရာ၌ ဟဒယပျော်ရွှင်မှုအသို့လျှင် ဖြစ်ပေါ်နိုင်အံ့နည်း။ ပျင်းရိမှုသာလျှင် ဖြစ်ပေါ်ပေမည်။

ဤနေရာတွင် ဆွလာတ် ဝတ်ပြုခြင်းကို အထူးတလည် ထုတ်ဖော် မိန့်ဆိုထားတော်မူခြင်း အကြောင်းမှာ ဆွလာတ်သည် အစ္စလာမ်သာသနာ၏ မဏ္ဍိုင်ကြီးတစ်ခုဖြစ်၏။

ကာယကံမြောက် လိုက်နာပြုကျင့်ရသော ခဝပ်မှုများတွင် ဆွလာတ်ဝတ်ပြုမှုကိုပင် မုနာဖစ်က်တို့သည် ပစ်ပယ်သမှုပြုနေကြလျှင် အခြားကျင့်စဉ်များကို အသို့ လျစ်လျူရှုထားကြမည်ကို ထုတ်ဖော်ရေးသားရန်ပင် မလိုပေ။ (မာဂျိဒီ)

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ لَا
تَتَّخِذُوا۟ ٱلْكَٰفِرِينَ أَوْلِيَآءَ
مِن دُونِ ٱلْمُؤْمِنِينَ ۚ
أَتُرِيدُونَ أَن تَجْعَلُوا۟ لِلَّهِ
عَلَيْكُمْ سُلْطَٰنًا مُّبِينًا ﴿١٤٤﴾

၁၄၄။ အို- 'မုအ်မင်န်' ယုံကြည်ခြင်းသဒ္ဓါတရား ထားရှိသူအပေါင်းတို့၊ အသင်တို့သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့မှတပါး 'ကာဖိရ်' သွေဖည် ငြင်းပယ်သောသူတို့အား ကလျာဏ မိတ်သဟာယ အဆွေခင်ပွန်း မပြုလုပ်ကြကုန်လင့်။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အဘို့ မိမိတို့နှင့်ဆန့်ကျင်၍ ထင်ရှား စွာသောသက်သေခံကို ပြုလုပ်လိုကြပါသလော။

إِنَّ ٱلْمُنَٰفِقِينَ فِى ٱلدَّرْكِ
ٱلْأَسْفَلِ مِنَ ٱلنَّارِ وَلَن
تَجِدَ لَهُمْ نَصِيرًا ﴿١٤٥﴾

၁၄၅။ ဧကန်အမှန် 'မုနာဖစ်က်' အယောင်ဆောင် မွတ်စ်လင်မ်တို့သည် ငရဲဘုံ၏ အောက်ဆုံးအထပ်၌ ရှိကြလတ္တံ့။ ၎င်းပြင်အသင်သည် ထိုသူတို့အဘို့ ကူညီစောင်မမည့်သူဟူ၍လည်း တဦးတယောက်ကိုမျှ တွေ့ရှိရမည်မဟုတ်ပေ။ [၁]

إِلَّا ٱلَّذِينَ تَابُوا۟ وَأَصْلَحُوا۟
وَٱعْتَصَمُوا۟ بِٱللَّهِ وَأَخْلَصُوا۟
دِينَهُمْ لِلَّهِ فَأُو۟لَٰٓئِكَ مَعَ
ٱلْمُؤْمِنِينَ ۖ وَسَوْفَ يُؤْتِ
ٱللَّهُ ٱلْمُؤْمِنِينَ أَجْرًا

၁၄၆။ သို့ရာတွင် အကြင်သူတို့သည် သတိသံဝေဂ နောင်တတရား ရရှိခဲ့ကြသည့်ပြင် ၎င်းတို့သည် မိမိ တို့၏အခြေအနေကိုလည်း ပြုပြင်ခဲ့ကြကုန်အံ့။ ထိုမှ တပါးယင်းသူတို့သည် အလ္လာဟ်အရှင်မြတ်(၏ အမိန့် တော်များ)ကိုလည်း မြဲမြံစွာ ဖက်ကိုင်ထားခဲ့ကြကုန်အံ့၊ ၎င်းပြင်ထိုသူတို့သည် မိမိတို့၏ 'သာသနာကိုလည်း သီးသန့် အလ္လာဟ်အရှင်မြတ်အဘို့ ဖြစ်စေခဲ့ကြကုန်အံ့။ ထိုသူတို့သည် 'မုအ်မင်န်' ယုံကြည်ခြင်းသဒ္ဓါတရား ထားရှိသောသူတို့နှင့်အတူတကွရှိကြလတ္တံ့။ [၂]

---

(၁) မုနာဖစ်က်သည် ကာဖိရ်ပင်ဖြစ်၏။ ကာဖိရ်ထက်ပင် ပိုမိုဆိုးရွား၏။ အဘယ်ကြောင့်ဆိုသော် မုနာဖစ်က်သည် 'ကုဖ်ရ်' တည်းဟူသောအပြစ်ကို ကျူးလွန်သည် သာမက 'နိဖါက်' အယောင်ဆောင်မှု၊ ဖြားယောင်းမှုတည်းဟူသော အပြစ်ကိုပါ ကျူးလွန်သူ ဖြစ်သောကြောင့် ဖြစ်၏။ ထို့အတွက်ကြောင့်ပင် မုနာဖစ်က်တယောက်သည် သာမန်ရိုးရိုး ကာဖိရ် တစ်ယောက်ထက် ပိုမို ဆိုးရွားသော အပြစ်ဒဏ်ကိုခံရပေမည်။ (မာဂျိဒီ)

(၂) ဤမုက္ခပါဠ်တော်တပုဒ်လုံး၏ အကျဉ်းသဘောမှာ အလွန်ကြီးလေးသော အပြစ်ဒဏ်များကို ခံထိုက်သော မုနာဖစ်က်များသည်ပင်လျှင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်နှင့် လွတ်ငြိမ်းချမ်းသာခွင့်မှာ ရမှုက်ကင်းကြရန် မဟုတ်သေးပေ။ အကယ်၍ မုနာဖစ်က်များသည် ဝန်ချတောင်းပန်ကြမည်။ မိမိတို့၏အပြုအမူ၊ အခြေအနေ ➢➢

عَظِيمًا ﴿١٤٦﴾

ငရဲပြင် မကြာမြင့်မီ အလ္လာဟ်အရှင်မြတ်သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သော သူတို့အား ကြီးကျယ် မြင့်မြတ်လှသော အကျိုးဆုလဒ်ကို ချီးမြှင့်ပေးသနားတော်မူအံ့။

مَا يَفْعَلُ اللَّهُ بِعَذَابِكُمْ إِنْ شَكَرْتُمْ وَآمَنْتُمْ ۚ وَكَانَ اللَّهُ شَاكِرًا عَلِيمًا ﴿١٤٧﴾

၁၄၇။ အို-'မုနာဖစ်က်' အယောင်ဆောင် မွတ်စ်လင်မ် အပေါင်းတို့၊ အကယ်၍သာ အသင်တို့သည် (အလ္လာဟ်အရှင်မြတ်၏ အတိုင်းမသိ အဆုံးမရှိသော) ကျေးဇူးတော်များကိုသိကြ၍ 'အီမာန်' ယုံကြည်ခြင်းသဒ္ဓါတရားထားရှိကြပါမူ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား အဘယ်သို့လျှင် အပြစ်ဒဏ်ပေးတော်မူအံ့နည်း။ ^(၁)

အမှန်စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည် ကောင်းမှုပြုသူတို့အား ရက်ရောစွာ ကောင်းကျိုးပေးသနားတော်မူသော အရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိရှိတော်မူသော အရှင်မြတ်ပင်တည်း။

➤➤ များကို အစ္စလာမ် တရားတော်နှင့်အညီ ပြုပြင် ပြောင်းလဲကြမည်။ အလ္လာဟ်အရှင်မြတ်ကိုသာလျှင် မှီခိုအားထားကြမည်။ စိတ်စေတနာ ဖြူစင်စွာဖြင့် သာသနာကို အလ္လာဟ်အရှင်မြတ်အတွက် သက်သက် ပြုလုပ်ကြမည်ဆိုလျှင် ထိုသူတို့သည် မုအ်မင်န်များနှင့်အတူ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်များကို ခိုလှုံကြရပေမည်။

ဝန်ချတောင်းပန်မှု၊ ပြုပြင်ပြောင်းလဲမှု စသည်တို့သည် စေတနာ အလျောက်ပြုစွမ်းနိုင်သော အရာများဖြစ်၏။ အချိန်မရွေး နေရာမရွေးပြုနိုင်၏။

သို့ဖြစ်ပေရာ မုနာဖစ်က်များသည်ပင်လျှင် အလိုဆန္ဒရှိက ဝန်ချတောင်းပန်၍ အစ္စလာမ်တရားတော်ကို လိုက်နာကျင့်သုံးကြပြီး မုအ်မင်န်တို့၏ ဘောင်သို့ ကူးပြောင်းနိုင်ကြပေသည်။ (မာဂျိဒီ)

(၁) ဤမုကွ္ဒပါဌ်တော်သည် မုနာဖစ်က်တို့အား ရည်ညွှန်း၍ မိန့်ဆိုထားတော်မူသော မုကွ္ဒပါဌ်တော်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် မည်သူတစ်ဦးတစ်ယောက်ကိုမျှ အကြောင်းမဲ့ အပြစ်ဒဏ်ပေးတော်မူသည်မဟုတ်ချေ။

မုနာဖစ်က်တို့သည် မိမိတို့၏ ကျေးဇူးကန်းမှု၊ သွေဖည်ငြင်းပယ်မှုများကြောင့် မိမိတို့ကိုယ်ကို မိမိတို့ပင်လျှင် ဂျဟန္နမ်၏ အမတသုခများနှင့် မထိုက်တန်အောင် ပြုလုပ်ထားကြပေသည်။ မုနာဖစ်က်တို့ ခံစားရမည့် အပြစ်ဒဏ်သည် ယင်းသူတို့ကျူးလွန်သော ပြစ်မှုတို့၏ အကျိုးသာ ဖြစ်ချေသည်။

အကယ်၍ မုနာဖစ်က်တို့သည် ကျေးဇူးတော်များကို သိတတ်၍ 'အီမာန်' ယုံကြည်ကြမည်ဆိုလျှင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်များကို မုချခိုလှုံကြရပေမည်။

لَا يُحِبُّ اللّٰهُ الْجَهْرَ بِالسُّوْٓءِ مِنَ الْقَوْلِ اِلَّا مَنْ ظُلِمَ ۗ وَكَانَ اللّٰهُ سَمِيْعًا عَلِيْمًا ﴿١٤٨﴾

၁၄၈။ အလ္လာဟ် အရှင်မြတ်သည် (သူတပါး၏) မကောင်းကြောင်း ထုတ်ဖေါ်ပြောဆိုသည်ကို နှစ်မြို့တော်မမူချေ၊ သို့ရာတွင် နှိပ်စက်ညှဉ်းပန်းခြင်း ခံရသောသူမှာကား (မိမိအား နှိပ်စက်သူ၏ မကောင်းကြောင်းကို ထုတ်ဖေါ်ပြောဆိုပိုင်ခွင့်ရှိပေသည်။) ၁

အမှန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် (ညှဉ်းပန်းနှိပ်စက်ခြင်း ခံရသောသူ၏ ပြောဆိုမှုကို) ကောင်းစွာ ကြားသိတော် မူသောအရှင်၊ (ညှဉ်းပန်းနှိပ်စက်သော သူ၏အကြောင်းကိုလည်း) ကောင်းစွာ သိရှိတော် မူသောအရှင်၊ ဖြစ်တော်မူသည်။

اِنْ تُبْدُوْا خَيْرًا اَوْ تُخْفُوْهُ اَوْ تَعْفُوْا عَنْ سُوْٓءٍ فَاِنَّ اللّٰهَ كَانَ عَفُوًّا قَدِيْرًا ﴿١٤٩﴾

၁၄၉။ (ညှဉ်းပန်းနှိပ်စက်ခြင်း ခံရသောသူ၌ မိမိ မကျေမနပ် ဖြစ်ကြောင်းကို ထုတ်ဖေါ်ပြောဆို ညည်းညူနိုင်ခွင့် ရှိငြားလည်း) အကယ်၍ အသင်တို့သည် ကောင်းမှုတစုံတရာကို ထုတ်ဖေါ်ကြပါလျှင်၊ သို့မဟုတ် ယင်းကောင်းမှုကို ဖုံးအုပ်ကြပါလျှင်၊ သို့တည်းမဟုတ် အသင်တို့သည် (တစုံတယောက်သောသူ၏) ပြစ်မှုတစ်စုံတရာကို ခွင့်လွှတ်ကြပါလျှင် (ဤသည် အကောင်းဆုံးပင်တည်း။ အကြောင်းသော်ကား) စင်စစ် အလ္လာဟ် အရှင်မြတ်သည်လည်း အလွန်တရာ ခွင့်လွှတ်တော် မူသောအရှင်၊ အလွန်တရာ စွမ်းဆောင်နိုင်တော် မူသောအရှင် ဖြစ်တော်မူ၏။ ၂

---

(၁) ဤမုက္ကပါဌ်တော်အရ ပိသုနဝါစာ ကုန်းချောခြင်း၊ ဖရုသဝါစာ ကြမ်းကြုတ်သော စကားပြောဆိုခြင်း၊ သူတပါး၏ဂုဏ်အသရေကို ထိခိုက်စေသော စကားပြောဆိုခြင်း၊ သူတပါး၏ရှေ့တွင်သော်၎င်း၊ နောက်ကွယ်ရာတွင်သော်၎င်း ရန့်ရင်းကြမ်းတမ်းသော စကားပြောဆိုခြင်းများသည် အလျင်း မပြုအပ်ပေ။ သို့ရာတွင် နှိပ်စက်ညှဉ်းပန်းခြင်းခံရသူတဦးသည် မိမိအားနှိပ်စက်ညှဉ်းပန်းသူ၏ နှိပ်စက်ကလူပြုမှုခြင်းကို ထုတ်ဖေါ် ပြောဆိုပိုင်ခွင့်ရှိသည်၊ ယင်းသို့ပြောဆိုရာတွင်လည်း ဟုတ်မှန်သမျှကိုသာလျှင် ပြောဆိုပိုင်သည်၊ မဟုတ်မမှန် လုပ်ကြံ၍ကား အလျင်း မပြောပိုင်ပေ။ အချုပ်အားဖြင့် သူတပါး၏မကောင်းကြောင်းကို အကြောင်းမဲ့ ➤➤

إِنَّ الَّذِينَ يَكْفُرُونَ بِاللَّهِ وَرُسُلِهِ وَيُرِيدُونَ أَنْ يُفَرِّقُوا بَيْنَ اللَّهِ وَرُسُلِهِ وَيَقُولُونَ نُؤْمِنُ بِبَعْضٍ وَنَكْفُرُ بِبَعْضٍ وَيُرِيدُونَ أَنْ يَتَّخِذُوا بَيْنَ ذَٰلِكَ

၁၅၀။ ဧကန်စင်စစ် အကြင်သူတို့သည် အလ္လာဟ် အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ "ရစူလ်" တမန်တော်တို့ကို ငြင်းပယ်ကြကုန်သည်။ ၎င်းပြင် ထိုသူတို့သည် (အီမာန်ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိရာ၌လည်း) အလ္လာဟ်အရှင်မြတ်နှင့် ထို အရှင်မြတ်၏ "ရစူလ်" တမန်တော်တို့၏ စပ်ကြား တွင် ခွဲခြား လိုကြကုန်သည်။ ထိုမှုမက သေးချေ၊ ယင်းသူတို့သည် (မိမိတို့၏နှုတ်ဖြင့်) ငါတို့သည် အချို့ ("ရစူလ်" တမန်တော်များ)ကို ယုံကြည် ကြကုန်၏။

---

➤➤ အကျိုးမဲ့ ဘယ်သောအခါ၌မျှ မပြောသင့် မပြောအပ် မပြောရာ။

ကြည့်-မာဂျိဒီ၊ အတွဲ-၁၊ စာမျက်နှာ-၂၂၅။ အောက်ခြေအမှတ်-(၇၉၆)။

**မှတ်သတ်။**

အကြင်သူတဦးကြောင့် သာသနာရေးတွင်သော်၎င်း၊ လောကီရေးတွင်သော်၎င်း၊ ဘေးအန္တရာယ် တစုံတရာ ပေါ်လာမည်ကို စိုးရိမ်ရလျှင် ထိုသို့သောသူ၏ အကြောင်းကိုမူ လူအများသိလေအောင် ထုတ်ဖော်ပြောဆိုခြင်းသည် "ဝါဂျစ်ဗ်" ဖြစ်သည်၊ မုချထုတ်ဖော်ပြောဆိုရပေမည်။ (ထာနဝီ)။

(၂) ဤမုကဒ္ဒပါဌ်တော်တွင် ကောင်းမှု၏ အဆင့်အတန်း သုံးမျိုးသုံးစားကို ကြီးစဉ်ငယ်လိုက် မိန့်ဆိုထားတော်မူ၏။ (၁) လူတယောက်သည် ကောင်းမှုတခုပြု၏။ ထိုကောင်းမှုကို လူအများသိအောင်လည်း ထင်ရှားစေ၏၊ လူအများ၏ချီးကျူးခြင်းကို လိုလား၏၊ ဤလည်းကောင်းမှုပင်ဖြစ်၏၊ သို့ရာတွင်အငယ်စားဖြစ်၏။ (၂) လူ တဦးသည် ကောင်းမှုတခုပြု၏၊ ထိုကောင်းမှုကို လူအများမသိရလေအောင် လျှို့ဝှက်ထား၏၊ ထိုသူသည် အများ၏ချီးကျူးသံကိုလည်း မလိုလားပေ၊ အလ္လာဟ်အရှင်မြတ်၏ နှစ်မြို့တော်မူခြင်းကိုသာလျှင် လိုလား၏၊ ဤကောင်းမှုသည် ပထမကောင်းမှုထက် အဆင့်အတန်းမြင့်ပေသည်။ (၃) လူတဦးသည် မိမိအား သူတပါးက နှိပ်စက်ကလူ ပြုခြင်းကိုခံရ၏၊ ထိုသူသည် မိမိအားနှိပ်စက်ကလူပြုသူကို လက်စားမချေ၊ ခွင့်လွှတ်လိုက်၏၊ ဤကဲ့သို့ မိမိအားနှိပ်စက်ကလူပြုသူကို လက်စားမချေ၊ ခွင့်လွှတ်လိုက်၏၊ ဤကဲ့သို့မိမိအား နှိပ်စက်ကလူပြုသူကို လက်စားမချေဘဲ မိမိ၏စိတ်ကို ချိုးနှိမ်ကာခွင့်လွှတ်ခြင်းသည် လူသားတို့အဘို့ မလွယ်ကူသော ကိစ္စပင်ဖြစ်၏။ ဤကောင်းမှုသည် ပထမကောင်းမှု၊ဒုတိယကောင်းမှုများထက် အဆင့်အတန်းမြင့်ပေသည်။

အလ္လာဟ်အရှင်မြတ်သည် လက်စားချေနိုင်တော်မူပါလျက် ခွင့်လွှတ်တော်မူသောအရှင် ဖြစ်တော်မူ၏၊ ဤမုကဒ္ဒပါဌ်တော်တွင် ဤဂုဏ်တော်ကို မိန့်ဆိုထားတော်မူခြင်းမှာ လူသားတို့သည် လည်း အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကို နှလုံးသွင်းကာ မိမိတို့အား နှိပ်စက်ကလူပြုသူများကို ခွင့်လွှတ်ပေးကြရန် နှိုးဆော် ထားတော်မူခြင်းပင်ဖြစ်သည်။ ရှု-မာဂျိဒီ၊အတွဲ-၁။ စာမျက်နှာ-၂၂၅၊အောက်ခြေအမှတ်-၇၉၈။

سَبِيۡلًا ﴿١٥٠﴾

သို့ရာတွင် အချို့("ရစူလ်" တမန်တော်များ) ကိုမူ ငြင်းပယ်ကြသည် ဟူ၍လည်း ပြောဆိုကြကုန်သည်။ ထိုမှတပါးတုံ ၎င်းတို့သည် ယင်း("ကုဖ်ရ်" သွေဖည် ငြင်းပယ်မှုနှင့် 'အီမာန်' ယုံကြည်မှု)၏ အလယ်အကြားတွင် နည်းလမ်းတခုကိုလည်း ပြုလုပ်လိုကြကုန်သတည်း။ [၁]

أُولَٰٓئِكَ هُمُ الۡكٰفِرُوۡنَ حَقًّا ۚ وَاَعۡتَدۡنَا لِلۡكٰفِرِيۡنَ عَذَابًا مُّهِيۡنًا ﴿١٥١﴾

၁၅၁။ (သို့ဖြစ်ပေရာ) ထိုသူတို့သည်သာလျှင် မုချ "ကာဖိရ်" သွေဖည် ငြင်းပယ်သောသူများ ဖြစ်ကြကုန်၏။ ငါအရှင်မြတ်သည် "ကာဖိရ်" သွေဖည် ငြင်းပယ်သော သူတို့အတို့ ဂုဏ်ရည် သေးသိမ်စေသောအပြစ်ဒဏ်ကို အဆင်သင့် ပြင်ဆင်ထားရှိတော်မူပြီး ဖြစ်ချေသတည်း။

وَالَّذِيۡنَ اٰمَنُوۡا بِاللّٰهِ وَرُسُلِهٖ وَلَمۡ يُفَرِّقُوۡا بَيۡنَ اَحَدٍ مِّنۡهُمۡ اُولٰٓئِكَ سَوۡفَ يُؤۡتِيۡهِمۡ اُجُوۡرَهُمۡ ؕ وَكَانَ اللّٰهُ غَفُوۡرًا رَّحِيۡمًا ﴿١٥٢﴾

၁၅၂။ သို့ရာတွင် အကြင်သူတို့သည် အလ္လာဟ် အရှင်မြတ်နှင့် ထို အရှင်မြတ်၏ "ရစူလ်" တမန်တော်တို့ကို ယုံကြည် ခဲ့ကြ၏။ ("အီမာန်" ယုံကြည်ခြင်း သဒ္ဓါတရားထားရှိရာ၌)၎င်း၊ ('ရစူလ်' တမန်တော်) တို့အနက် မည်သည့် ("ရစူလ်" တမန်တော်)တပါးကိုမျှ ခွဲခြားခြင်းကိုလည်း မပြုခဲ့ကြချေ။ သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် ယင်းသူတို့အား ၎င်းတို့၏ ကုသိုလ်အကျိုးများကို မုချ ချီးမြှင့်ပေးသနားတော်မူအံ့။

---

(၁) ဤမုကဒ္ဒပါဌ်တော်သည် ယဟူဒီများအား အဓိကအားဖြင့် ရည်ညွှန်းသည်မှာ ထင်ရှားလှပေသည်။ အဘယ်ကြောင့်ဆိုသော် ယဟူဒီများသည် အတိတ်ခေတ်တွင် ပွင့်တော်မူခဲ့ကြသည့် နဗီ တမန်တော်များအနက် မြောက်များစွာသော နဗီတမန်တော်များအား ယုံကြည်မြတ်နိုးကြသော်လည်း မိမိတို့၏ အဆက်အနွယ်တွင် ပွင့်တော်မူသော နဗီတမန်တော် ယာဟ်ယာ(အလိုင်ဟစ္စလာမ်)၊ နဗီတမန်တော် အီစာ(အလိုင်ဟစ္စလာမ်)တို့ကိုကား မယုံကြည်ကြပေ၊ နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ကိုလည်း မယုံကြည်ကြပေ။

၎င်းပြင် ဤမုကဒ္ဒပါဌ်တော်တွင် နဆွာရာနီများလည်း အကျုံးဝင်နိုင်ပေသည်၊ အဘယ်ကြောင့်ဆိုသော် ထိုသူများသည် နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ကို အတည့်အလင်း ငြင်းဆိုကြ၏၊ ➤➤

အမှန်စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်း ချမ်းသာခွင့် ပေးသနားတော် မူသောအရှင်၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော အရှင်မြတ်ပင် ဖြစ်တော် မူပေသတည်း။

يَسْـَٔلُكَ أَهْلُ الْكِتٰبِ أَنْ تُنَزِّلَ عَلَيْهِمْ كِتٰبًا مِّنَ السَّمَآءِ فَقَدْ سَأَلُوا مُوسٰىٓ أَكْبَرَ مِنْ ذٰلِكَ فَقَالُوٓا أَرِنَا اللّٰهَ جَهْرَةً فَأَخَذَتْهُمُ الصّٰعِقَةُ بِظُلْمِهِمْ ۚ ثُمَّ اتَّخَذُوا الْعِجْلَ مِنْ بَعْدِ مَا

**၁၅၃။** (အို- နဗီတမန်တော်) ရှေးအထက် ကျမ်းဂန်ရရှိသူ (ယဟူဒီ)တို့သည် ရေးသားပြီးဖြစ်သော ကျမ်းဂန် တစောင်လုံးကို (လောလောဆယ်ပင်) မိမိတို့ထံ ကောင်းကင်မှ ချပေးစေရန် အသင့်ထံ တောင်းဆိုကြပါလျှင်၊ မလွဲဧကန် ၎င်းတို့သည် (နဗီတမန်တော်) မူစာ၏ထံ ယင်းထက် ကြီးကျယ်သောအချက်ကိုပင် *တောင်းဆိုခဲ့ဘူးကြ၏။* [၁] ၎င်းတို့သည် (နဗီတမန်တော်မူစာကို) "အသင်သည် ကျွန်ုပ်တို့အား အလ္လာဟ် အရှင်မြတ်ကို အထင်အရှား ပြပါလေ" ဟု ပြောဆိုခဲ့ကြကုန်၏။ သို့ဖြစ်၍ ၎င်းတို့၏ ဆိုးသွမ်းမှုကြောင့် မိုးကြိုး လောင်မီးသည် ၎င်းတို့အား ဖမ်းဆီး(ကွပ်မျက်)ခဲ့လေသည်။

➤➤ တမန်တော် အီစာ(အလိုင်ဟစ္စလာမ်)ကိုလည်း နဗီတမန်တော်၏ အဆင့်အတန်းတွင် မထားဘဲ ကိုးကွယ်ရာ အရှင်မြတ်ဟူ၍ မှတ်ယူ ကိုးကွယ်ကြ၏။

(၁) နဗီတမန်တော်မြတ်ထံ ထိုကဲ့သို့ တောင်းဆိုသောသူများမှာ မဒီနာမြို့ရှိ ယဟူဒီများ၊ အထူးသဖြင့် ကအ်ဗ် အီဗ်နုအရှ်ရဖ်နှင့် ၎င်း၏အပေါင်းအဖော်များ ဖြစ်ကြ၏။ ယဟူဒီများက ကျွန်ုပ်တို့သည် ကောင်းကင်တမန်တပါးမှ တဆင့် နဗီတမန်တော်တပါး၏ စိတ်နှလုံးတွင်းသို့ကျရောက်သော "ဝဟီ" အမိန့်တော်များကို မယုံကြည်၊ တမန်တော်မူစာထံသို့ ရေးသားထားသည့်အမိန့် ပညတ်တော် ၁၀-ပါး ကျရောက်ခဲ့၏၊ အကယ်၍ အသင်သည် မိမိပြောဆိုသည့်အတိုင်း နဗီတမန်တော်တပါးဖြစ်ပါလျှင် ကောင်းကင်မှ ရေးသားပြီးဖြစ်သော ကျမ်းဂန်တစောင် တင်ပြပါဟု နဗီတမန်တော် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား တောင်းဆိုကြ၏။

ကြည့်-မာရိဖီ။ အစောင်-၁။ စာမျက်နှာ-၂၂၆။

ယဟူဒီများက နဗီတမန်တော် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ရေးသားပြီးဖြစ်သော တောင်ရာတ်ကျမ်းသည် တမန်တော်မူစာထံ ကျရောက်သကဲ့သို့ မိုးကောင်းကင်မှ ရေးသားပြီးဖြစ်သော ကျမ်းဂန် တစောင်ကို ယင်းသူတို့ထံ ချပေးစေရန် တောင်းဆိုကြ၏။ (အီဗ်နုကဆီရ်)။ ➤➤

جَآءَتْهُمُ الْبَيِّنٰتُ فَعَفَوْنَا عَنْ ذٰلِكَ ۚ وَاٰتَيْنَا مُوْسٰى سُلْطٰنًا مُّبِيْنًا ﴿١٥٣﴾

တဖန် ထိုသူများသည် မိမိတို့ထံ ထင်ရှားစွာသော သက်သေလက္ခဏာများ ရောက်လာပြီးသည့်နောက်၌ပင် နွားငယ်ကလေး(၏ရုပ်တု)ကို (ကိုးကွယ်ရာဘုရားအဖြစ်) ပြုလုပ်(ကိုးကွယ်)ခဲ့ကြပြန်သည်။ သို့ပါလျက် ငါ အရှင်မြတ်သည် ယင်းပြစ်မှုကို ခွင့်လွှတ်တော် မူခဲ့လေသည်။ ထို့ပြင်တဝ ငါအရှင်မြတ်သည် (နဗီတမန်တော်)မူစာအား ပေါ်လွင်ထင်ရှားသော သြဇာတိက္ကမ အခွင့်အာဏာကို ချီးမြှင့်ပေးသနားတော် မူခဲ့လေသည်။

وَرَفَعْنَا فَوْقَهُمُ الطُّوْرَ بِمِيْثَاقِهِمْ وَقُلْنَا لَهُمُ ادْخُلُوا الْبَابَ سُجَّدًا وَّقُلْنَا لَهُمْ لَا تَعْدُوْا فِى السَّبْتِ وَاَخَذْنَا مِنْهُمْ مِّيْثَاقًا غَلِيْظًا ﴿١٥٤﴾

**၁၅၄။** ၎င်းပြင် ငါအရှင်မြတ်သည် ထိုသူတို့ထံမှ ပဋိညာဉ်ယူခြင်းငှာ ထိုသူထက်ဝယ် "တူရ်" မည်သောတောင်ကို ပင့်မြှောက်တော် မူခဲ့၏။ ထို့ပြင် ငါအရှင်မြတ်သည် ထိုသူတို့ကို "အသင်တို့သည် (မြို့၏)တံခါးပေါက်သို့ ဝပ်တွား၍ ဝင်ကြလေကုန်" ဟူ၍လည်း မိန့်ကြားတော်မူခဲ့၏။ ၎င်းပြင် ထိုသူတို့အား "အသင်တို့သည် 'စဗ်တ်' (စနေနေ့)ဥပုသ်နေ့နှင့်စပ်လျဉ်း၍ မကျူးလွန်ကြလေနှင့်" ဟူ၍လည်း မိန့်ကြားတော်မူခဲ့၏။ ထိုမှတပါး ငါအရှင်မြတ်သည် ထိုသူတို့ထံမှ အလွန်ခိုင်မာသော ပဋိညာဉ်ကိုလည်း ယူခဲ့တော်မူ၏။

---

➤➤ ဤကဲ့သို့ ယဟူဒီများက တမန်တော်မြတ်ထံ တောင်းဆိုကြခြင်းမှာ အထူးအဆန်း မဟုတ်ပေ၊ ထိုသူများသည် ထိုထက်ပင် ကြီးကျယ်သောအချက်ကို တမန်တော်မူစာထံ တောင်းဆိုခဲ့ကြဘူး၏၊ ယဟူဒီများ၏ တောင်းဆိုခြင်း၏ ရည်ရွယ်ချက်မှာ တရားရယူကြရန် မဟုတ်ဘဲ၊ မနာလို မုန်းထားကြသည့်အတွက် တောင်းဆိုခြင်းသာဖြစ်၏။ တမန်တော်မူစာသည် ရေးသားပြီးဖြစ်သော ကျမ်းဂန်ကိုပင် ယူဆောင်လာခဲ့၏။ သို့တစေလည်း ထိုသူများသည် မလိုက်နာခဲ့ကြချေ၊ မလိုက်နာခဲ့ကြသည်သာမက တမန်တော်မူစာအား "အသင်သည် ကျွန်ုပ်တို့အား အလ္လာဟ်အရှင်မြတ်ကို အထင်အရှားပြပါ" ဟူ၍ပင် တဆင့်တက်၍ တောင်းဆိုကြပြန်သည်။ အမှန်မှာ ယဟူဒီများ၏ ရာဇဝင်တခုလုံးသည် မနာလိုမုန်းထားမှု၊ သွေးဖည်ဆန့်ကျင်မှုများနှင့် ပြည့်လျှံနေသည်မှာ အထင်အရှားပင်။ မာဂျိဒီ။ အစောင်-၁။ စာမျက်နှာ-၂၂၆။

فَبِمَا نَقْضِهِمْ مِّيْثَاقَهُمْ وَكُفْرِهِمْ بِاٰيٰتِ اللّٰهِ وَقَتْلِهِمُ الْاَنْۢبِيَآءَ بِغَيْرِ حَقٍّ وَّقَوْلِهِمْ قُلُوْبُنَا غُلْفٌ ؕ بَلْ طَبَعَ اللّٰهُ عَلَيْهَا بِكُفْرِهِمْ فَلَا يُؤْمِنُوْنَ اِلَّا قَلِيْلًا ﴿۱۵۵﴾

၁၅၅။ ထို့နောက် ၎င်းတို့သည် မိမိတို့ထားရှိကြကုန်သော ပဋိညာဉ် ဝန်ခံချက်ကို ဖောက်ဖျက်ခြင်းကြောင့်၎င်း၊ အလ္လာဟ် အရှင်မြတ်၏ သက်သေလက္ခဏာတော်များကို သွေဖည် ငြင်းပယ်ခြင်းကြောင့်၎င်း၊ နဗီတမန်တော်များကို မတရားသဖြင့် သတ်ဖြတ်ခြင်းကြောင့်၎င်း၊ ယင်းသူတို့က (နဗီတမန်တော်မုဟမ္မဒ်အား "ကျွန်ုပ်တို့၏ စိတ်နှလုံးများသည် ဖုံးအုပ်(လုံခြုံ)ပြီး ဖြစ်လေသည်" ဟု ပြောဆိုခြင်းကြောင့်၎င်း၊ (ပြစ်ဒဏ်အမျိုးမျိုးတို့ကို ခံစားခဲ့ကြရလေသည်)။

စင်စစ်သော်ကား (၎င်းတို့၏ စိတ်နှလုံးသည်) ထိုသို့ အလျင်း ဖုံးအုပ်နေသည် မဟုတ်ပေ။ အမှန်မှာ ထိုသူတို့၏ ငြင်းပယ်သွေဖည်မှုကြောင့် အလ္လာဟ် အရှင်မြတ်သည် ထိုသူတို့၏ စိတ်နှလုံးများပေါ်ဝယ် တံဆိပ်ခတ်နှိပ်တော် မူခဲ့လေသည်။ သို့အတွက်ကြောင့် ၎င်းတို့သည် အနည်းငယ်မျှသာ ယုံကြည်ကြကုန် သတည်း။

وَّبِكُفْرِهِمْ وَقَوْلِهِمْ عَلٰى مَرْيَمَ بُهْتَانًا عَظِيْمًا ۙ﴿۱۵۶﴾

၁၅၆။ ၎င်းပြင် ထိုသူတို့၏ သွေဖည်ငြင်းပယ်မှုကြောင့်၎င်း၊ "မရ်ယမ်" ၏အပေါ်ဝယ် အကြီး အကျယ် ယိုးစွပ်ခြင်းကြောင့်၎င်း။

وَّقَوْلِهِمْ اِنَّا قَتَلْنَا الْمَسِيْحَ عِيْسَى ابْنَ مَرْيَمَ رَسُوْلَ اللّٰهِ ۚ وَمَا قَتَلُوْهُ وَمَا صَلَبُوْهُ

၁၅၇။ ထိုမှတပါးတုံ ယင်းသူတို့က "ဧကန်စင်စစ် ကျွန်ုပ်တို့သည် "မရ်ယမ်" ၏သား အလ္လာဟ် အရှင်မြတ်၏ 'ရစူလ်' တမန်တော် 'မစီဟ် အီစာ' ကို သတ်ဖြတ်ခဲ့ကြကုန်သည်" ဟု ပြောဆိုခြင်း ကြောင့် (ငါအရှင်မြတ်သည် ထိုသူတို့ကို ပြစ်ဒဏ် အမျိုးမျိုး ခတ်တော်မူခဲ့၏၊)

وَلٰكِنْ شُبِّهَ لَهُمْ ۗ وَاِنَّ الَّذِيْنَ اخْتَلَفُوْا فِيْهِ لَفِيْ شَكٍّ مِّنْهُ ۗ مَا لَهُمْ بِهٖ مِنْ عِلْمٍ اِلَّا اتِّبَاعَ الظَّنِّ ۚ وَمَا قَتَلُوْهُ يَقِيْنًا ﴿١٥٧﴾

အမှန် စင်စစ်သော်ကား ယင်းသူတို့သည် ထိုနဗီတမန်တော်အီစာကို *သတ်ဖြတ်နိုင်ခဲ့ကြသည် လည်းမဟုတ်ပေ။* [1] လက်ဝါးကပ်တိုင် တင်နိုင်ခဲ့ကြ သည်လည်းမဟုတ်ချေ။ အမှန်မှာကား ၎င်းတို့အတို့ မှာ (လက်ဝါးကပ်တိုင် အတင်ခံရသောသူ၏ အဆင်း သဏ္ဌာန်သည်) ဆင်တူယိုးမှား *ဖြစ်စေခြင်း* ခံရခဲ့ *လေသည်။* [2]

၎င်းပြင် ဧကန်စင်စစ် ထိုနဗီတမန်တော် အီစာနှင့် ပတ်သက်၍ ကွဲလွဲ ငြင်းခုံကြကုန်သော သူတို့ကား ယင်းနဗီတမန်တော်အီစာနှင့် ပတ်သက်၍ ဒွိဟသံသယဥ္စာသာ (နစ်မွန်းလျက်) ရှိနေကြသည်မှာ မလွဲဧကန်တည်း။

၎င်းတို့၌ ထိုနဗီတမန်တော် အီစာနှင့် ပတ်သက်၍ (မိမိတို့၏ မဟုတ်မမှန်သော) ထင်မြင် ယူဆချက်ကို လိုက်နာခြင်းမှတပါး (တိကျမှန်ကန် သော) အသိတရားဟူ၍ အလျင်း မရှိချေ။ စင်စစ် သော်ကား ယင်းသူတို့သည် ထို နဗီတမန်တော် အီစာအား အမှန်စင်စစ် သတ်ဖြတ်နိုင်ခဲ့ကြသည် မဟုတ်ပေ။

---

(၁) ယဟူဒီများသည် နဗီတမန်တော် အီစာ(အလိုင်ဟစ္စလာမ်)အား နည်းပရိယာယ် အမျိုးမျိုးတို့ဖြင့် သတ်ဖြတ်နိုင်ရန် ကြိုးစားခဲ့ကြလင့်ကစား ထိုသူတို့သည် နဗီတမန်တော် အီစာ(အလိုင်ဟစ္စလာမ်)အား ကာယကံ မြောက် သတ်ဖြတ်နိုင်ခဲ့ကြသည်လည်းမဟုတ်ပေ။ လက်ဝါးကပ်တိုင်သို့ တင်နိုင်ခဲ့ကြကုန်သည်လည်း မဟုတ်ချေ။

(၂) နဗီတမန်တော် အီစာ(အလိုင်ဟစ္စလာမ်)အား သတ်ဖြတ်နိုင်ရန် အမျိုးမျိုး ကြိုးစားခဲ့ကြသော ယဟူဒီများသည် တမန်တော်အီစာအား ကားစင်သို့တင်ရန် ပြုလုပ်ကြသည့်အချိန်တွင် တမန်တော်အီစာအား ကားစင် မတင်မိဘဲ အခြားသူတဦးကို တမန်တော်အီစာဟူ၍ ထင်မှတ်ကာ ကားစင်တင်မိခဲ့ကြ၏။ တမန်တော်အီစာ(အလိုင်ဟစ္စလာမ်) မှာကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်အဟုန်ဖြင့် ယင်းသူတို့၏ လက်တွင်းမှ ဘေးမသီရန်မခ လုံး၀ လွတ်မြောက်တော် မူခဲ့လေသည်။

بَلْ رَّفَعَهُ اللّٰهُ اِلَيْهِ ۗ وَكَانَ اللّٰهُ عَزِيْزًا حَكِيْمًا ﴿١٥٨﴾

**၁၅၈။** ထိုသို့ အလျှင်း မဟုတ်ပေ။ စင်စစ်မှာကား အလ္လာဟ်အရှင်မြတ်သည် ထိုနဗီတမန်တော်အီစာ အား မိမိအထံတော်သို့ ပင့်ချီ မ,ယူတော်မူခဲ့လေသည်။ [၁] စင်စစ် သော်ကား အလ္လာဟ် အရှင်မြတ်သည် အလွန်အင်အား ကြီးမားတော် မူသောအရှင်၊ ဉာဏ်ပညာနှင့် အလွန်ပြည့်စုံတော် မူသောအရှင်၊ ဖြစ်တော်မူ၏။

وَاِنْ مِّنْ اَهْلِ الْكِتٰبِ اِلَّا لَيُؤْمِنَنَّ بِهٖ قَبْلَ مَوْتِهٖ ۚ وَيَوْمَ الْقِيٰمَةِ يَكُوْنُ عَلَيْهِمْ شَهِيْدًا ﴿١٥٩﴾

**၁၅၉။** ၎င်းပြင် ရှေးအထက်ကျမ်းဂန်ကို ရရှိသူ (ယဟူဒီ)တို့အနက် တယောက်မကျန် နဗီတမန်တော် မစီဟ်အီစာ မကွယ်လွန်မီ ထို နဗီတမန်တော် မစီဟ်အီစာအား ယုံကြည်ကြကုန်အံ့။ ထို့ပြင်တ၀ ယင်းနဗီတမန်တော် အီစာသည် "ကိယာမတ်" ခေါ် ရှင်ပြန်ထမည့်နေ့တွင် ယင်း (ယဟူဒီ) တို့နှင့် ပတ်သက်၍ သက်သေခံလိမ့်မည် ဖြစ်ချေသတည်း။

فَبِظُلْمٍ مِّنَ الَّذِيْنَ هَادُوْا حَرَّمْنَا عَلَيْهِمْ طَيِّبٰتٍ اُحِلَّتْ لَهُمْ وَبِصَدِّهِمْ عَنْ سَبِيْلِ اللّٰهِ كَثِيْرًا ﴿١٦٠﴾

**၁၆၀။** တဖန် ယဟူဒီတို့၏ (ယင်းကဲ့သို့သော) ကျူးကျော်မှုကြောင့်၎င်း၊ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်မှ (လူတို့အား) များစွာ ပိတ်ပင် တားဆီး မှုကြောင့်၎င်း၊ ငါအရှင်မြတ်သည် ၎င်းတို့အဘို့ (ယခင်မူလက) ခွင့်ပြုထားသော သန့်စင်ကောင်းမွန် သောအရာများကို ၎င်းတို့အပေါ်၌ "ဟရာမ်" ဟူ၍ တားမြစ်တော်မူခဲ့လေသည်။

---

(၃) အမှန်မှာ အလ္လာဟ်အရှင်မြတ်သည် တမန်တော်အီစာ(အလိုင်ဟစ္စလာမ်)အား မိမိတန်ခိုးတော်ဖြင့် မိမိအထံတော်သို့ ပင့်မ ယူဆောင်ထားတော်မူခြင်းဖြစ်သည်။ ဤအကြောင်း ကုရ်အာန်ကျမ်းမြတ်(၃း၅၄)တွင် ပါရှိပြီးဖြစ်၏။

وَّاَخۡذِهِمُ الرِّبٰوا وَقَدۡ نُهُوۡا
عَنۡهُ وَاَكۡلِهِمۡ اَمۡوَالَ النَّاسِ
بِالۡبَاطِلِ‌ؕ وَاَعۡتَدۡنَا لِلۡكٰفِرِيۡنَ
مِنۡهُمۡ عَذَابًا اَلِيۡمًا ﴿١٦١﴾

၁၆၁။ ထို့ပြင်တဝ ထိုသူတို့၏ အတိုးအညွှန့်ကို ယူငင်(စားသုံး)မှုကြောင့်၎င်း၊ အမှန်မှာ ထိုသူတို့သည် ထို(သို့ အတိုးအညွှန့်စားသုံးခြင်း)မှ မြစ်တားခြင်း ခံခဲ့ကြရပေပြီ။ သူတပါးတို့၏ ဥစ္စာပစ္စည်းများကို မတရားသောနည်းဖြင့် စားသုံးမှု ကြောင့်၎င်း၊ (ငါ အရှင်မြတ်သည် ထိုသူတို့အဘို့ ကောင်းမွန်သော အရာများကို မြစ်တားတော် မူခဲ့လေသည်၊) ထိုမှတပါးတုံ့ ငါအရှင်မြတ်သည် ထိုသူတို့အနက်မှ သွေဖည်ငြင်းပယ်သော သူတို့အဘို့ အလွန်ပြင်းပြနာကျင်ဘွယ်ဖြစ်သော ပြစ်ဒဏ်ကိုလည်း အဆင် သင့် ပြုလုပ် ထားရှိတော်မူပြီး ဖြစ်ပေသတည်း။

لٰكِنِ الرّٰسِخُوۡنَ فِى الۡعِلۡمِ
مِنۡهُمۡ وَالۡمُؤۡمِنُوۡنَ يُؤۡمِنُوۡنَ
بِمَاۤ اُنۡزِلَ اِلَيۡكَ وَمَاۤ اُنۡزِلَ مِنۡ
قَبۡلِكَ‌ وَالۡمُقِيۡمِيۡنَ الصَّلٰوةَ‌
وَالۡمُؤۡتُوۡنَ الزَّكٰوةَ وَالۡمُؤۡمِنُوۡنَ
بِاللّٰهِ وَالۡيَوۡمِ الۡاٰخِرِ‌ؕ اُولٰۤـئِكَ
سَنُؤۡتِيۡهِمۡ اَجۡرًا عَظِيۡمًا ﴿١٦٢﴾

၁၆၂။ သို့ရာတွင် ၎င်း(ယဟူဒီ)တို့အနက်မှ ပညာအရာ၌ ကျွမ်းကျင်လိမ္မာ ခြေမြစ်ခိုင်မာ ရင့်သန်ကြ၍ "အီမာန်" ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိကြကုန်သော သူတို့သည် အသင့်ထံ ထုတ်ပြန်ချမှတ်ပြီးဖြစ်သောကျမ်းဂန်ကို၎င်း၊ အသင်၏ အလျင် (အခြားအခြားသောနဗီတမန်တော်များထံ ထုတ်ပြန်ချမှတ်ပြီးဖြစ်သော ကျမ်းဂန်တို့ကို၎င်း၊ ယုံကြည်ကြကုန်၏။ ထို့ပြင်တဝ ၎င်းတို့သည် "ဆွလာတ်" ဝတ်ပြုမှုကို အမြဲထာဝစဉ် ဆောက်တည်သူများလည်း ဖြစ်ကြကုန်၏။ ထိုမှတပါးတုံ့ "ဇကာတ်" တရားဝင်ဒါနကြေးကို ပေးဆောင်သူများလည်းဖြစ်ကြကုန်၏။ ထို့ပြင် ယင်းသူတို့သည် အလ္လာဟ်အရှင်မြတ်ကို၎င်း၊ နောက်ဆုံးနေ့ကို၎င်း၊ ယုံကြည်ကြသူများလည်း ဖြစ်ကြ၏။ ဤကဲ့သို့သော သူများပင်တည်း။ ငါ အရှင်မြတ်သည် မုချ ယင်းသူတို့အား ကြီးကျယ်လှစွာသော အကျိုးဆုလဒ်ကို ချီးမြှင့်ပေးသနားတော်မူအံ့။

إِنَّآ أَوۡحَيۡنَآ إِلَيۡكَ كَمَآ أَوۡحَيۡنَآ إِلَىٰ نُوحٖ وَٱلنَّبِيِّـۧنَ مِنۢ بَعۡدِهِۦۚ وَأَوۡحَيۡنَآ إِلَىٰٓ إِبۡرَٰهِيمَ وَإِسۡمَٰعِيلَ وَإِسۡحَٰقَ وَيَعۡقُوبَ وَٱلۡأَسۡبَاطِ وَعِيسَىٰ وَأَيُّوبَ وَيُونُسَ وَهَٰرُونَ وَسُلَيۡمَٰنَۚ وَءَاتَيۡنَا دَاوُۥدَ زَبُورٗا ﴿١٦٣﴾

၁၆၃။ ဧကန်စင်စစ် ငါ အရှင်မြတ်သည် (နဗီတမန်တော်) "နူဟ်" နှင့် ယင်း (နဗီတမန်တော် "နူဟ်") ၏နောက်၌ ပွင့်ခဲ့ကြလေသော နဗီတမန်တော်တို့ထံသို့ (ဝဟ်ယ်) အမိန့်ဗျာဒိတ်တော်များ ပို့တော်မူဘိသကဲ့သို့ ၎င်း၊ (နဗီတမန်တော်) "အီဗ်ရာဟီမ်"၊ (နဗီတမန်တော်) "အစ္စမာအီလ်"၊ (နဗီတမန်တော်) "အစ္စဟာက်" (နဗီတမန်တော်) "ယအ်ကူဗ်"၊ (ထို နဗီတမန်တော် "ယအ်ကူဗ်"၏) သား- မြေး -မြစ် (တို့တွင် ပွင့်လေသော နဗီတမန်တော်များ)၊ (နဗီတမန်တော်) "အီစာ"၊ (နဗီတမန်တော်) "အိုက်ယူဗ်"၊ (နဗီတမန်တော်) "ယူနွတ်စ်"၊ (နဗီတမန်တော်) "ဟာရူန်" နှင့် (နဗီတမန်တော်) "စုလိုင်မာန်" တို့ထံသို့ (ဝဟ်ယ်) အမိန့်ဗျာဒိတ် တော်များပို့တော်မူဘိသကဲ့သို့ ၎င်း၊ (နဗီတမန်တော်) "ဒါဝူဒ်" အား "ဇဗူရ်" ကျမ်းတော်ကို ချီးမြှင့် ပေးသနားတော်မူဘိသကဲ့သို့ ၎င်း၊ အသင့်ထံသို့လည်း (ဝဟ်ယ်) အမိန့်ဗျာဒိတ်တော်များကို ပို့တော်မူခဲ့လေသတည်း။

وَرُسُلٗا قَدۡ قَصَصۡنَٰهُمۡ عَلَيۡكَ مِن قَبۡلُ وَرُسُلٗا لَّمۡ نَقۡصُصۡهُمۡ عَلَيۡكَۚ وَكَلَّمَ

၁၆၄။ ၎င်းပြင် (ငါ အရှင်မြတ်သည်) အကြင် ရစူလ်တမန်တော်များ ထံသို့လည်း ("ဝဟ်ယ်" အမိန့်ဗျာဒိတ်တော်များကို ပို့တော်မူခဲ့လေသည်)။ ထိုရစူလ်တမန်တော်များ၏ အကြောင်းအတ္ထုပ္ပတ္တိကို ငါအရှင်မြတ်သည် ယခင်မူလက အသင်၏ရှေ့ဝယ် ပြောပြတော်မူခဲ့ဘူး၏။ ၁

① အလ္လာဟ်အရှင်မြတ်သည် နဗီ၊ ရစူတမန်တော်ပေါင်း ၁၂၄၀၀၀-ကျော်ကို စေလွှတ်တော်မူခဲ့၏။ ထိုနဗီတမန်တော်များအနက် အချို့နဗီတမန်တော်များ၏အကြောင်းကို ကုရ်အာန်ကျမ်းမြတ်တွင် တွေ့ရှိရ၏။ ပွင့်လေကုန်သော နဗီတမန်တော်အားလုံးတို့အား ချွင်းချန်ခြင်း၊ ခွဲခြားခြင်း မရှိဘဲအီမာန် ယုံကြည်ကြရပေမည်။ သို့ယုံကြည်ရာတွင် တမန်တော်အသီးသီး၏အကြောင်းကို အသေးစိတ်သိရန်မလိုပေ။ ကြည့်-မဒါရိက်။ မာဂျိဒီ။

اللّٰهُ مُوسٰى تَكْلِيمًا ﴿١٦٤﴾

ထိုနည်းတူစွာ (ငါ အရှင်မြတ်သည်) အကြင်ရစူလ်တမန်တော်များထံသို့လည်း ("ဝဟ်ယ်" အမိန့်ဗျာဒိတ်တော်များကို ပို့တော်မူခဲ့လေသည်၊) ထိုရစူလ်တမန်တော်များ၏ အတ္ထုပ္ပတ္တိကို ငါ အရှင်မြတ်သည် အသင်၏ရှေ့ဝယ် ဖေါ်ပြတော်မူခဲ့ဘူးသည်မရှိချေ။ ထိုမှတပါး အလ္လာဟ်အရှင်မြတ်သည် (နဗီတမန်တော်)မူစာနှင့် (အထူးသဖြင့်) *စကားပြောဆိုတော်မူခဲ့လေသတည်း။*[၁]

رُسُلًا مُّبَشِّرِينَ وَمُنذِرِينَ لِئَلَّا يَكُونَ لِلنَّاسِ عَلَى اللَّهِ حُجَّةٌ بَعْدَ الرُّسُلِ ۚ وَكَانَ اللَّهُ عَزِيزًا حَكِيمًا ﴿١٦٥﴾

**၁၆၅။** (ငါအရှင်မြတ်သည်) ရစူလ် တမန်တော်များအား ဝမ်းမြောက်ဘွယ်ရာ သတင်းပေးသူများ အဖြစ်ငှင်း၊ သတိပေး နှိုးဆော်သူများအဖြစ်ငှင်း၊ (စေလွှတ်တော်မူခဲ့လေသည်။ ယင်းသို့ စေလွှတ်တော်မူခြင်းမှာ) ထိုရစူလ်တမန်တော်များ ရောက်ရှိလာကြပြီးနောက် ("ကိယာမတ်" ခေါ် ရှင်ပြန်ထရမည့်နေ့တွင်) အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်၌ လူတို့အတို့ *အကြောင်းပြချက် မရှိစေရန်အလို့ငှာ ဖြစ်ချေသည်။*[၂] အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို နိုင်နင်း လွှမ်းမိုးတော်မူသောအရှင်၊ ဆင်ခြင်တုံဉာဏ်နှင့် ပြည့်စုံတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

① အလ္လာဟ်အရှင်မြတ်သည် နဗီတမန်တော် မူစာ (အလိုင်ဟစ္စလာမ်) နှင့် မိမိစပ်ကြားတွင် အဆက်အသွယ်မထားဘဲ စကားပြောကြားတော်မူခဲ့လေသည်။ ကြည့်-ဂျလာလိုင်န်။

စပ်ကြားတွင် အဆက်အသွယ်မထားဘဲ စကားပြောကြားတော်မူခြင်းသည် (ဝဟီ) ၏ အဆင့်အတန်းများအနက် အမြင့်မြတ်ဆုံး အဆင့်အတန်းပင်ဖြစ်ချေသည်။ ကြည့်-ရူဟုလ်မအာနီ၊ မာဂျိဒီ။

② အလ္လာဟ်အရှင်မြတ်သည် 'အွန်မတ်' လူမျိုး အသီးသီးတို့ထံသို့ နဗီတမန်တော်များကို စေလွှတ်တော်မူခဲ့၏။ ကြည့်-ကုရ်အာန်(၃၅:၂၄)။ အကယ်၍သာလူသားတို့ထံ နဗီတမန်တော်များကို စေလွှတ်တော်မမူပါက ယင်းသူတို့သည် မိမိတို့ထံသို့နဗီတမန်တော်များအား စေလွှတ်တော်မမူခြင်းကိုအကြောင်းပြကြပေမည်။ ကြည့်-ကုရ်အာန် (၂၀:၁၃၄။ ၂၈:၄၇။ ၂၈:၅၉။ ၁၇:၁၅။ ၆:၁၅၆-၁၅၈။)။ ယင်းသူတို့ထံ နဗီတမန်တော်များ ရောက်လာကြပြီးသည့်နောက်ပိုင်းတွင်မူ မိမိတို့၏သွေဖည်ငြင်းပယ်မှုများနှင့် စပ်လျဉ်း၍ တစုံတရာ အကြောင်းပြနိုင်ကြမည် မဟုတ်ပေ။

لَٰكِنِ اللَّهُ يَشْهَدُ بِمَآ أَنزَلَ إِلَيْكَ أَنزَلَهُۥ بِعِلْمِهِۦ ۖ وَالْمَلَٰٓئِكَةُ يَشْهَدُونَ ۚ وَكَفَىٰ بِاللَّهِ شَهِيدًا ﴿١٦٦﴾

**၁၆၆။** သို့ရာတွင် (ယင်းသူတို့က အသင် နဗီ တမန်တော်ဖြစ်ကြောင်း ငြင်းပယ်ကြသော်လည်း) အလ္လာဟ် အရှင်မြတ်သည် (အသင် နဗီတမန်တော် ဖြစ်ကြောင်းကို) မိမိ ချပေးသနားတော်မူခဲ့သော (ကုရ်အာန်) ကျမ်းတော်မြတ်ဖြင့် *သက်သေခံတော်မူ လေသည်။* [1] ထို အရှင်မြတ်သည် ယင်းကျမ်းတော် မြတ်ကို မိမိ အသိပညာတော်နှင့်တကွ ချပေး သနားတော်မူခဲ့လေသည်။ ၎င်းပြင် "မလာအိကဟ်" အပါးတော် စေတမန်အပေါင်းတို့လည်း (အသင် နဗီတမန်တော်ဖြစ်ကြောင်းကို) *သက်သေခံလျက် ရှိကြကုန်သည်။* [2] အမှန်စင်စစ်သော်လည်း အလ္လာဟ် အရှင်မြတ်သည်ပင် သက်သေအဖြစ် လုံလောက် တော်မူပေသတည်း။

**ထုတ်ပြန်ပို့ချတော်မူခြင်းအကြောင်း။**

' တနေ့သ၌ ယဟူဒီတစုသည် နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံသို့ ရောက်လာကြ၏။ တမန်တော်မြတ်က ထိုသူတို့အား "အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ပြောမည်၊ မုချ ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်ဖြစ်ကြောင်းကို အသင်တို့အမှန်သိကြသည်" ဟု ပြောကြားတော်မူရာ ယဟူဒီများက "ဤသည်ကို ကျွန်ုပ်တို့မသိကြပါ" ဟု ပြန်လည်ဖြေကြားကြ၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းလာ မုကဒ္ဒပါဌ်တော်(၄း၁၆၆)ကို ထုတ်ပြန်ပို့ချတော်မူလေသည်။

ကြည့်-အီဗ်နုဂျရီရ်။ အတွဲ-၆၊ စာမျက်နှာ-(၂၂)။

(၁) ကာဖိရ်များသည် တမန်တော်မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) နဗီဖြစ်တော်မူသည်ကို အဘယ်သို့လျှင် ငြင်းဆိုကြလင့်ကစား တမန်တော်မြတ်၏ဂုဏ်ကို စိုးစဉ်းမျှမထိခိုက်ချေ။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ် နဗီဖြစ်ခြင်းနှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင် ကုရ်အာန်ကျမ်းတော်မြတ်ဖြင့် သက်သေခံတော် မူခြင်းကြောင့် ဖြစ်ပေသည်။ အလ္လာဟ်အရှင်မြတ်၏ သက်သေခံတော်မူခြင်းသည် အမှန်ကန်ဆုံး၊ အခိုင်လုံဆုံးပင် ဖြစ်၏။ ကြည့်-ကုရ်အာန်-(၆း၁၉)၊ "အလ္လာဟ်အရှင်မြတ်သည်ပင်သက်သေအဖြစ် လုံလောက်တော်မူပေသည်"။

(၂) အလ္လာဟ်အရှင်မြတ်သည် စေတမန်များအား စေလွှတ်တော်မူ၍ တမန်တော်မြတ်နှင့်တကွ မုအ်မင်န်တို့အား ကူညီ ယိုင်းပင်းစေတော်မူခဲ့၏။ ကြည့်-ကုရ်အာန်(၈း၁၂)။ အပါးတော်စေတမန် ဂျိဗ်ရီလ်(အလိုင်ဟစ္စလာမ်)သည် အလ္လာဟ်အရှင်မြတ် အထံတော်မှ ကုရ်အာန်ကျမ်းတော်မြတ်ကို တမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)ထံသို့ ယူဆောင်ပို့ချခဲ့၏။ ကြည့်-ကုရ်အာန်(၂း၉၆)။ ယင်းကဲ့သို့ အပါးတော်စေတမန်များ တမန်တော်မြတ်အား ကူညီယိုင်းပင်းခြင်းသည် တမန်တော်မြတ်အား နဗီဖြစ်ကြောင်း သက်သေခံခြင်းပင်ဖြစ်သည်။

ကြည့်-အလ်မနာရ်၊ အတွဲ- ၆၊ စာမျက်နှာ-(၇၆)။

إِنَّ الَّذِينَ كَفَرُوا وَصَدُّوا عَن سَبِيلِ اللَّهِ قَدْ ضَلُّوا ضَلَالًا بَعِيدًا ﴿١٦٧﴾

**၁၆၇။** ဧကန်စင်စစ် အကြင်သူတို့သည် (တမန်တော် မုဟမ္မဒ်သည် နဗီဖြစ်ခြင်းနှင့်စပ်လျဉ်း၍ သက်သေခံ အထင်အရှားရှိပါလျက်) မယုံမကြည် သွေဖည် ငြင်းပယ်ခဲ့ကြ၏။ ၎င်းပြင် အခြားသူများကို အလ္လာဟ် အရှင်မြတ်၏(တရား) လမ်းတော်မှလည်း မြစ်တား ခဲ့ကြ၏။ မလွဲဧကန် ထိုသူတို့သည် (တရားလမ်းမှန် မှ) အလွန် ကမ်းလှမ်းဝေးကွာသော လမ်းမှားသို့ ရောက်ရှိခဲ့ကြချေပြီ။

إِنَّ الَّذِينَ كَفَرُوا وَظَلَمُوا لَمْ يَكُنِ اللَّهُ لِيَغْفِرَ لَهُمْ وَلَا لِيَهْدِيَهُمْ طَرِيقًا ﴿١٦٨﴾

**၁၆၈။** ဧကန်စင်စစ် အကြင်သူတို့သည် မယုံမကြည် သွေဖည်ငြင်းပယ်ကြ၏။ ၎င်းပြင် မတော်မတရား ပြုမူခဲ့ကြ၏။ ထိုသူတို့အား အလ္လာဟ်အရှင်မြတ် သည် လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူမည် လည်းမဟုတ်ပေ။ မည်သည့်လမ်းကိုမျှ ညွှန်ကြား ပြသတော်မူမည်လည်းမဟုတ်ချေ။

إِلَّا طَرِيقَ جَهَنَّمَ خَالِدِينَ فِيهَا أَبَدًا ۚ وَكَانَ ذَٰلِكَ عَلَى اللَّهِ يَسِيرًا ﴿١٦٩﴾

**၁၆၉။** သို့ရာတွင် (အလ္လာဟ် အရှင်မြတ်သည် ယင်းသူတို့အား) "ဂျဟန္နမ်" ငရဲဘုံ၏လမ်းကိုသာ (ညွှန်ကြားပြသတော်မူအံ့)၊ ၎င်းတို့သည် ထိုငရဲဘုံ၌ ထာဝစဉ်နေထိုင်သောသူများ ဖြစ်ကြလတ္တံ့။ အမှန် စင်စစ် ယင်းကဲ့သို့ ပြစ်ဒဏ်ပေးခြင်းသည် အလ္လာဟ် အရှင်မြတ်အဖို့ လွယ်ကူလှပေသတည်း။

يَا أَيُّهَا النَّاسُ قَدْ جَاءَكُمُ الرَّسُولُ بِالْحَقِّ مِن رَّبِّكُمْ فَآمِنُوا خَيْرًا لَّكُمْ ۚ وَإِن تَكْفُرُوا فَإِنَّ لِلَّهِ مَا

**၁၇၀။** အို–လူအပေါင်းတို့၊ ဧကန်စင်စစ် (ဤ)ရစူလ် တမန်တော်(မုဟမ္မဒ်)သည် အသင်တို့ထံသို့ အသင် တို့အား မွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ (မှန်ကန်သောတရားမေ့)ကို ယူဆောင်၍လာခဲ့ချေပြီ။ သို့ဖြစ်ပေရာ အသင်တို့သည် 'အီမာန်' သဒ္ဒါတရား ထားရှိကြလေကုန်။ (ဤကဲ့သို့ 'အီမာန်' သဒ္ဒါတရား ထားရှိခြင်းကား)အသင်တို့အဖို့အကောင်းဆုံးပင်ဖြစ်မည်။

فِى السَّمٰوٰتِ وَالْاَرْضِ ۗ وَكَانَ اللّٰهُ عَلِيْمًا حَكِيْمًا ﴿١٧٠﴾

သို့ရာတွင် အကယ်၍ အသင်တို့သည် မယုံမကြည် သွေဖည်ငြင်းပယ်ကြပါမူ (အသင်တို့သည်ပင်လျှင် နစ်နာဆုံးရှုံးကြလတ္တံ့)။ အကြောင်းမူကား မိုးကောင်ကင်များနှင့် ပထဝီမြေ၌ ရှိရှိသမျှသော (သက်ရှိသက်မဲ့) အရာဝတ္ထု အလုံးစုံတို့သည် အလ္လာဟ်အရှင်မြတ် ပိုင်ဆိုင်တော်မူသော အရာဝတ္ထုချည်းသာ ဖြစ်သောကြောင့် ပင်တည်း။ ၎င်းပြင် အလ္လာဟ် အရှင်မြတ်သည် ခပ်သိမ်း ဥဿုံ အလုံးစုံတို့ကို အကြွင်းမဲ့သိရှိတော်မူသောအရှင်၊ ကျိုးကြောင်းဆင်ခြင်တုံဉာဏ်နှင့် ပြည့်စုံတော်မူသော အရှင်မြတ်ပင်ဖြစ်တော်မူချေသတည်း။ [၁]

يٰۤاَهْلَ الْكِتٰبِ لَا تَغْلُوْا فِىْ دِيْنِكُمْ وَلَا تَقُوْلُوْا عَلَى اللّٰهِ اِلَّا الْحَقَّ ؕ اِنَّمَا الْمَسِيْحُ عِيْسَى ابْنُ مَرْيَمَ

**၁၇၁။** အို–ရှေးအထက် *ပရိယတ္တိ ကျမ်းဂန်ရရှိသူအပေါင်းတို့၊* [၂] အသင်တို့သည် မိမိတို့ဘာသာ သာသနာ၌ အလွန်အကျူး လွန်ကဲခြင်းလည်း*မပြုကြကုန်လင့်။* [၃] အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ *အမှန်အကန်ပြောဆိုခြင်းမှတပါး အခြား တစုံတရာ ပြောဆိုခြင်းကိုလည်း မပြုကြကုန်လင့်။* [၄]

---

(၁) ဤမုက္ခပါဠ်တော်သည် မက္ကာမြို့သူမြို့သားများ၊ သို့မဟုတ် အရဗ်လူမျိုးများကိုသာ ရည်ညွှန်းသည်မဟုတ်၊ ကမ္ဘာ့အဝှန်းရှိ လူသားအားလုံးတို့ကို ရည်ညွှန်းမိန့်ဆိုတော်မူသော မုက္ခပါဠ်တော် ဖြစ်သည်။
(ကြည့်–ကဗီရ်၊ ကုရ်တုဗီ၊ ရူဟုလ်မအာနီ၊ မာဂျိဒီ။)

(၂) ဤမုက္ခပါဠ်တော်တွင် 'အဟ်လလ်ကိတာဗ်'၊ "ကျမ်းရသောသူများ" ဟူသည် 'အင်န်ဂျီလ်' ကျမ်းရသော 'နဆွာရာနီ' ခရစ်ယာန်များကို ဆိုလိုသည်။ ကြည့်–အီဗ်နုဂျရီရ်။ ကဗီရ်။ အီဗ်နုကသီရ်။ မအာလင်မ်။

(၃) အထက်တွင် ယဟူဒီများ၏ ဆိုးသွမ်းမှု၊ တရားစည်းကမ်း လွန်ကျူးမှုများအကြောင်း ပါရှိခဲ့၏။ ယခု ဤမုခ်ပါဠ်တော်တွင် နဆွဲရာနီတို့အား တရားစည်းကမ်း မကျူးလွန်ကြရန် မိန့်ကြားထားတော်မူ၏။ ယဟူဒီများသည် တမန်တော်အီစာအား နဗီဟူ၍ မယုံကြည်ကြသည့်အပြင် သတ်ဖြတ်ကြရန်ပင် ကြိုးစားခဲ့ကြ၏။ နဆွဲရာနီများမှာမူ တမန်တော် အီစာအား အကြည်ညိုလွန်ကာ နဗီ ၏ အဆင့်အတန်းထက် ပိုမိုမြှင့်တင်ပြီး တမန်တော်အီစာသည် အလ္လာဟ်အရှင်မြတ်ဖြစ်သည်ဟူ၍၎င်း၊ အလ္လာဟ်အရှင်မြတ်၏ သားတော်ဖြစ်သည်ဟူ၍၎င်း၊ ဘုရားသုံးဆူတွင် တပါးအပါအဝင်ဖြစ် သည်ဟူ၍၎င်း မှတ်ယူခဲ့ကြ၏။ ယင်းကဲ့သို့ မဖြစ်စေရန် ဤမုက္ခပါဠ်တော်တွင် ဆိုဆုံးမထားတော်မူသည်။ (ကြည့်–မာဂျိဒီ။)

رَسُولُ اللّٰهِ وَكَلِمَتُهٗۚ اَلْقٰهَاۤ
اِلٰى مَرْيَمَ وَرُوْحٌ مِّنْهُ‌ فَاٰمِنُوْا
بِاللّٰهِ وَرُسُلِهٖ‌ۚ وَلَا تَقُوْلُوْا
ثَلٰثَةٌ‌ ؕ اِنْتَهُوْا خَيْرًا لَّكُمْ‌ ؕ
اِنَّمَا اللّٰهُ اِلٰهٌ وَّاحِدٌ‌ ؕ
سُبْحٰنَهٗۤ اَنْ يَّكُوْنَ لَهٗ وَلَدٌ‌ۘ
لَهٗ مَا فِى السَّمٰوٰتِ وَمَا فِى
الْاَرْضِ‌ؕ وَكَفٰى بِاللّٰهِ

"မရ်ယမ်" ၏သားတော် (နဗီတမန်တော်) "မစီဟ်၊အီစာ" သည် အလ္လာဟ် အရှင်မြတ်၏ ရစူလ်တမန်တော်မျှသာ ဖြစ်ချေသည်။ ၎င်းပြင် (နဗီတမန်တော် အီစာသည်) အလ္လာဟ် အရှင်မြတ်၏ *အကြင်သတင်းစကားလည်းဖြစ်၏။* ၁ အလ္လာဟ် အရှင်မြတ်သည် ထိုသတင်းစကားကို "မရ်ယမ်" ၏ထံသို့ ပို့ဆောင်တော်မူခဲ့လေသည်။ ၎င်းပြင် ထိုအရှင်မြတ်အထံတော်မှ *ဝိညာဉ်လည်းဖြစ်၏။* ၂ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကိုငှင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်အပေါင်းတို့ကိုငှင်း၊ ယုံကြည်ကြလေကုန်။ ထိုမှတပါး အသင်တို့သည် (ကိုးကွယ်ရာဘုရား၊ သို့တည်းမဟုတ် အလ္လာဟ် အရှင်မြတ်သည်) သုံးပါးရှိသည်ဟူ၍ မပြောဆိုကြကုန်လင့်။

---

⑥ အလ္လာဟ်အရှင်မြတ်၌ သားသမီးများရှိသည်ဟူ၍၎င်း၊ ဘုရားသုံးဆူပေါင်းတွင် တဆူဖြစ်သည်ဟူ၍၎င်း၊ တမန်တော်အီစာသည် အလ္လာဟ်အရှင်မြတ်၏ သားတော်ဖြစ်သည်ဟူ၍၎င်း၊ အလ္လာဟ်အရှင်မြတ်သည် မစီဟ်အီစာပင် ဖြစ်သည်ဟူ၍၎င်း၊ ယုံကြည်ခြင်းများသည် အမှားစင်စစ်ဖြစ်၏။ အလ္လာဟ်အရှင်မြတ်နှင့် စပ်လျဉ်း၍ မဟုတ်မမှန်သော စကားကို အလျင်းမပြောရာ။ ကြည့်-ထာနဗီ။

① နဗီတမန်တော် အီစာ(အလိုင်ဟစ္စလာမ်)သည် အလ္လာဟ်အရှင်မြတ်၏ 'ကလိမဟ်' မုက္ခပါဌ်တော်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ မုက္ခပါဌ်တော်ဟူ၍ ဘွဲ့နာမ မှည့်ခေါ်ခြင်းအကြောင်းနှင့် စပ်လျဉ်း၍ 'မုဖါစ်စိရ်' အဋ္ဌကထာရှင်များသည် အောက်ပါအတိုင်း ရေးသားကြသည်။

(က) အလ္လာဟ်အရှင်မြတ်သည် နဗီတမန်တော် အီစာအား 'ကွန်' ဟူသော အမိန့်တော်ဖြင့် ဖန်ဆင်းတော်မူခဲ့ခြင်းကို အကြောင်းပြု၍ အလ္လာဟ်အရှင်မြတ်၏ မုက္ခပါဌ်ဟူ၍ မှည့်ခေါ်ခြင်း ဖြစ်သည်ဟူ၏။
ကြည့်-အီဗ်နအဗ္ဗါစ်၊ ကဗီရ်၊ ကုရ်တုဗီ၊ ရူဟုလ်မအာနီ၊ မအာလင်မ်၊ အီဗ်နုကသီရ်၊ ရာဃိဗ်။

(ခ) မရ်ယမ်သခင်မ၌ လင်ခင်ပွန်း မရှိဘဲလျက် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ဖြင့် သားတော်တပါး ဖွားမြင်မည့်အကြောင်းကို အလ္လာဟ်အရှင်မြတ်သည် မရ်ယမ်သခင်မအား အပါးတော်စေတမန် ဂျီဗ်ရီလ် (အလိုင်ဟစ္စလာမ်)ကို စေလွှတ်၍ သတင်းစကား ပြောကြားစေတော်မူခဲ့၏။ ဤအကြောင်း ကုရ်အာန်-(၁၉း၁၇)တွင် ပါရှိ၏။ ယင်းကဲ့သို့ သတင်းစကား ပြောကြားတော်မူခြင်းကို အကြောင်းပြု၍ တမန်တော် အီစာအား အလ္လာဟ်အရှင်မြတ်၏ မုက္ခပါဌ်တော်ဟူ၍ မှည့်ခေါ်ခြင်းဖြစ်သည်ဟူ၏။
ကြည့်-အီဗ်နုလ်အရဗီ၊ အလ်မနာရ်၊ မာဂျိဒီ။

وَكِيلًا ﴿١٧١﴾

အသင်တို့သည် (ယင်းကဲ့သို့ ပြောခြင်းမှ) ရပ်စဲကြလေကုန်။ (သို့ရပ်စဲခြင်းသည်) အသင်တို့အဘို့ အကောင်းဆုံးပင် ဖြစ်လတ္တံ့။ အလ္လာဟ် အရှင်မြတ်သည် တဆူတည်းသော ကိုးကွယ်ရာ အရှင်သည်သာ ဖြစ်တော်မူလေ၏။

ထို အရှင်မြတ်သည် မိမိ၌ *သားရှိခြင်းမှ ကင်းစင်တော်မူ၏။* [၁] မိုးကောင်းကင်၌ ရှိသမျှတို့သည်၎င်း၊ မြေ၌ ရှိသမျှတို့သည်၎င်း၊ အလ္လာဟ် အရှင်မြတ်ပိုင်ဆိုင်တော်မူသော အရာများချည်းသာ ဖြစ်ကုန်၏။ ၎င်းပြင် ထိုအရှင်မြတ်သည်သာလျှင် အရာရာကို စီမံပြုလုပ်ပေးတော်မူသောအရှင်မြတ် အဖြစ် *လုံလောက်တော်မူပေသတည်း။* [၂]

لَنْ يَّسْتَنْكِفَ الْمَسِيْحُ اَنْ يَّكُوْنَ عَبْدًا لِّلّٰهِ وَلَا الْمَلٰٓئِكَةُ الْمُقَرَّبُوْنَ ۗ وَمَنْ يَّسْتَنْكِفْ عَنْ عِبَادَتِهٖ

**၁၇၂။** (နဗီတမန်တော်) "မစီဟ်" (အီစာ)သည်၎င်း၊ အပါးတော်မြဲ "မလာအိကဟ်" စေတမန်အပေါင်းတို့သည်၎င်း၊ အလ္လာဟ်အရှင်မြတ်၏ ကျွန်ဖြစ်ခြင်းကို (ဂုဏ်ရည်ယုတ်သည့် ရှက်ဘွယ်ရာဖြစ်သည်ဟု အလျင်း ထင်မှတ်ကြမည် မဟုတ်ပေ။ အလျင်း စက်ဆုပ်ကြမည်လည်းမဟုတ်ပေ)။

---

(၂) နဗီတမန်တော် အီစာ(အလိုင်ဟစ္စလာမ်)သည် အလ္လာဟ်အရှင်မြတ်၏ အထံတော်မှ ဝိညာဉ်တော်ဖြစ်၏။ ဆိုလိုသည်ကား တမန်တော် အီစာသည် လူ့သဘာဝအလျောက် ဖြစ်လေ့ဖြစ်ထရှိသော အကြောင်းတရားများ မပါဘဲ အလ္လာဟ်အရှင်မြတ် စီရင် ဖန်ဆင်းထားတော်မူသော ဝိညာဉ်တော် ဖြစ်သည်ဟူ၏။

(၁) အလ္လာဟ်အရှင်မြတ်သည် သားသမီး သံယောဇဉ်နှင့် လုံးဝ ကင်းစင်တော်မူ၏။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ဖန်ဆင်းတော်မူသော အရှင်ဖြစ်တော်မူ၏။ အရာခပ်သိမ်းတို့သည် အဖန်ဆင်းခံ ပစ္စည်းမျှဖြစ်၏။ ဖန်ဆင်းတော်မူသော အရှင်သည် ပိုင်ဆိုင်တော်မူသော အရှင်ဖြစ်၏။ ဖန်ဆင်းခြင်းခံရသောပစ္စည်းသည် အပိုင်ဆိုင်ခံပစ္စည်းမျှဖြစ်၏။ ပိုင်ဆိုင်သူနှင့် အပိုင်ဆိုင်ခံပစ္စည်းသည် ကွဲပြား၏၊ ခြားနား၏။ အမျိုးမတူချေ။ တဖန် သားနှင့်အဘသည် ကွဲပြားခြားနားသည် မရှိ၊ တမျိုးတစား တည်းဖြစ်၏။ ရှိရှိသမျှသော သက်ရှိသက်မဲ့ အားလုံးတို့သည် အလ္လာဟ်အရှင်မြတ်၏ အဖန်ဆင်းခံ အပိုင်ဆိုင်ခံ ပစ္စည်းများသာ ဖြစ်ပေရာ ထိုအရှင်မြတ်၌ သားသမီးဟူ၍မရှိချေ။ ကြည့်-မာဂျိဒီ၊အတွဲ-၁၊စာမျက်နှာ(၂၃၂)။

وَيَسْتَكْبِرْ فَسَيَحْشُرُهُمْ إِلَيْهِ جَمِيعًا ﴿١٧٢﴾

သို့ရာတွင် မည်သူမဆို ထိုအရှင်မြတ်၏ ကျွန်ဖြစ်ခြင်းကို စက်ဆုပ်၍ မာန်မာန ထောင်လွှားသည်ရှိသော် ထိုအရှင်မြတ်သည် မကြာမြင့်မီ ထို(ကဲ့သို့သော)သူ အားလုံးတို့ကို မိမိအထံတော်သို့ (စစ်ဆေးမေးမြန်းခြင်းငှာ) စုရုံးစေတော်မူအံ့။

فَأَمَّا الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ فَيُوَفِّيهِمْ أُجُورَهُمْ وَيَزِيدُهُم مِّن فَضْلِهِ ۖ وَأَمَّا الَّذِينَ اسْتَنكَفُوا وَاسْتَكْبَرُوا فَيُعَذِّبُهُمْ عَذَابًا أَلِيمًا ۙ وَلَا يَجِدُونَ لَهُم مِّن دُونِ اللَّهِ وَلِيًّا وَلَا نَصِيرًا ﴿١٧٣﴾

**၁၇၃။** တဖန် ထို အရှင်မြတ်သည် "အီမာန်" သဒ္ဒါတရားထားရှိ၍ ကောင်းမြတ်သော ကိုယ်ကျင့်တရားများ ဆောက်တည်ကြကုန်သော သူတို့အား ၎င်းတို့၏ ကုသိုလ် အကျိုးတို့ကို အပြည့်အစုံ ပေးသနားတော်မူအံ့။ ၎င်းပြင် မိမိကျေးဇူးတော်ဖြင့်လည်း ထိုသူတို့အား ပိုမို ချီးမြှင့်တော်မူအံ့။

သို့ရာတွင် အကြင်သူတို့သည် (ထိုအရှင်မြတ်၏ကျွန်ဖြစ်ခြင်းကို) ရွံ့ရှာစက်ဆုပ်၍ မာန်မာန ထောင်လွှားခဲ့ကြ၏။ ထိုသူတို့ကို ထိုအရှင်မြတ်သည် ပြင်းပြ နာကျင်ဘွယ်ရာဖြစ်သော အပြစ်ဒဏ်ကို ပေးတော်မူလတ္တံ့။

၎င်းပြင် ထို သူတို့သည် မိမိတို့အတို့ အလ္လာဟ် အရှင်မြတ်မှတပါး အခြား မည်သူတဦး တယောက်ကိုမျှ အဆွေခင်ပွန်း အဖြစ်နှင့်၎င်း၊ ကူညီစောင်မမည့်သူ အဖြစ်၎င်း၊ တွေ့ရှိကြရမည် မဟုတ်ချေ။

---

(၂) အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စီမံ ပြုလုပ်ပေးတော်မူသော အရှင်ဖြစ်တော်မူ၏။ အရာရာကို စီမံပြုလုပ်ပေးရန် ထိုအရှင်မြတ်သည် လုံလောက်တော်မူ၏။ မည်သူတဦး တယောက်ကိုမျှ မတောင့်တရတော်မူပေ။ သို့ဖြစ်ပေရာ အလ္လာဟ် အရှင်မြတ်အား အထောက်အမပြုရန် သားသမီးလည်းမလိုပေ။ တွဲဘက် ယှဉ်ဘက်လည်း မလိုပေ။

يَاَيُّهَا النَّاسُ قَدْ جَآءَكُمْ بُرْهَانٌ مِّنْ رَّبِّكُمْ وَاَنْزَلْنَآ اِلَيْكُمْ نُوْرًا مُّبِيْنًا ﴿١٧٤﴾

၁၇၄။ အို-လူခပ်သိမ်းတို့၊ [၁] အသင်တို့အား မွေးမြူတော်မူသော အရှင်မြတ်၏အထံတော်မှ အသင်တို့ထံသို့ ခိုင်လုံသောသက်သေသာဓကတရပ် [၂] (ဖြစ်သော နဗီတမန်တော် မုဟမ္မဒ် ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကေန်မလွဲ ရောက်ရှိလာခဲ့ချေပြီ။ ၎င်းပြင်ငါ အရှင်မြတ်သည် အသင်တို့ထံသို့ ထင်ရှားလှစွာသော အလင်းရောင် [၃] (ဖြစ်သော ကုရ်အာန်ကျမ်းတော်မြတ်) ကိုလည်း ချပေးသနားတော်မူခဲ့ချေပြီ။

فَاَمَّا الَّذِيْنَ اٰمَنُوْا بِاللّٰهِ وَاعْتَصَمُوْا بِهٖ فَسَيُدْخِلُهُمْ فِيْ رَحْمَةٍ مِّنْهُ وَفَضْلٍ وَّيَهْدِيْهِمْ اِلَيْهِ صِرَاطًا مُّسْتَقِيْمًا ﴿١٧٥﴾

၁၇၅။ သို့ဖြစ်ပေရာ အကြင်သူတို့သည် အလ္လာဟ်အရှင်မြတ်ကို ယုံကြည်၍ ထို အရှင်မြတ်(၏ ဒီန်သာသနာတော် အစ္စလာမ်)ကို မြဲမြံခိုင်ခံ့စွာ ဘက်ကိုင်ထားရှိကြကုန်၏။ သို့ဖြစ်လျှင် ထိုသူတို့အား မကြာမြင့်မီ ထိုအရှင်မြတ်သည် မိမိကရုဏာတော်(တည်း ဟူသော "ဂျန္နတ်" အမတ သုခဘုံ)နှင့် ကျေးဇူးတော် တွင်းသို့ ဝင်ရောက်စေတော် မူအံ့။ ၎င်းပြင် ထိုအရှင်မြတ်သည် ယင်းသူတို့အား မိမိအထံတော်သို့ (ရောက်ရှိနိုင်ရန်) ဖြောင့်မတ်သော (တရား)လမ်းကိုလည်း ညွှန်ပြတော်မူလတ္တံ့။ [၄]

---

(၁) "အို-လူအပေါင်းတို့" ဟူသည် လူသားအားလုံးတို့အား ရည်ညွှန်းမိန့်ဆိုသော မုက္ခပါဌ်တော်ဖြစ်သည်။
ကြည့်.-အီဗ်နုဂျရီရ်၊ အီဗ်နုကဆီရ်၊ ရူဟုလ်ဗယာန်။

(၂) "ဗုရ်ဟာန်" သက်သေသာဓကဟူသည် နဗီတမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ဆိုလိုသည်။
ကြည့်.-အီဗ်နုအဗ္ဗါစ်၊ အလ်ဗဟ် ရလ်မုတီတွ်။

တမန်တော်မြတ်၏ သန့်ရှင်းသော ကိုယ်ကျင့်တရားများနှင့် ပြည့်ဝစုံလင်သော အဆုံးအမသြဝါဒများသည် အခက်အခဲ ဟူဟူသမျှတို့ကို လွယ်ကူစေခဲ့၏။ ကျောက်၊ သံကဲ့သို့ မာကျောသောစိတ်ဓါတ်များကိုပင် ပျော့ပျောင်းစေခဲ့၏။ (မာဂျိဒီ။)

(၃) "ထင်ရှားသောအလင်းရောင်" ဟူသည် ကုရ်အာန်ကျမ်းတော်မြတ်ကို ဆိုလိုသည်။
ကြည့်.-အီဗ်နုအဗ္ဗာစ်၊ ရူဟုလ်မအာနီ။

(၄) အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုး၍ ထိုအရှင်မြတ်၏ တရားဒေသနာတော်ကို စွဲမြဲစွာ ➤➤

يَسْتَفْتُونَكَ ۖ قُلِ اللّٰهُ يُفْتِيكُمْ
فِي الْكَلٰلَةِ ۚ إِنِ امْرُؤٌا هَلَكَ
لَيْسَ لَهُ وَلَدٌ وَّلَهُ أُخْتٌ
فَلَهَا نِصْفُ مَا تَرَكَ ۚ وَهُوَ
يَرِثُهَا إِنْ لَّمْ يَكُنْ لَّهَا وَلَدٌ ۚ
فَإِنْ كَانَتَا اثْنَتَيْنِ فَلَهُمَا
الثُّلُثٰنِ مِمَّا تَرَكَ ۚ وَإِنْ
كَانُوا إِخْوَةً رِّجَالًا وَّنِسَاءً
فَلِلذَّكَرِ مِثْلُ حَظِّ

**၁၇၆။** (အို-နဗီတမန်တော်) ထိုသူတို့သည် (မိဘ၊ သားသမီး တစုံတယောက်မျှမရှိသော "ကလာလလ်" ယောကျ်ား၏အမွေနှင့်စပ်လျဉ်းသော) တရားစီရင်ဆုံးဖြတ်ချက်ကို အသင့်အား မေးမြန်းကြကုန်သည်။ အသင်သည် (ထိုသူတို့အား ဤသို့)ဖြေကြားပါလေ၊ "အလ္လာဟ် အရှင်မြတ်သည် *(ကလာလဟ်) မိဘ၊ သားသမီး တစုံတယောက်မျှမရှိသော* [၁] ယောကျ်ား (၏အမွေ)နှင့်စပ်လျဉ်း၍ (ဤသို့) အဆုံးအဖြတ် ပေးတော်မူလေသည်။

အကယ်၍ အကြင် ယောကျ်ား တဦး တယောက်သည် သေကြေပျက်စီး၍ ထိုသူ၌ သား သမီး တစုံတယောက်မျှမရှိဘဲ နှမ(သို့မဟုတ်အစ်မ) တယောက်သာ ရှိခဲ့မူ၊ ထိုနှမ(သို့မဟုတ်အစ်မ)သည် "ကလာလဟ်" ယောကျ်ားထားရှိခဲ့သော *အမွေပစ္စည်း၏ ထက်ဝက်ကို ရရှိပေအံ့။* [၂]

➤➤ လိုက်နာ ကျင့်သုံးသူတို့ကို အရှင်မြတ်သည် ဂျန္နတ်တွင် ထားရှိတော်မူမည့်အပြင် အခြား ကျေးဇူးတော်များကို ချီးမြှင့်တော်မူဦးမည် ဖြစ်၏။

(၁) 'ကလာဟဟ်' ၏ အမွေခွဲတမ်းအကြောင်း ဤကဏ္ဍ (၄း၁၂) တွင် ပါရှိခဲ့၏။ ထိုမုကဒ္ဒပါဌ်တော် ကျရောက် ပြီးသည့်နောက် အချို့ သာဝကကြီးများက 'ကလာဟဟ်' ၏ အမွေခွဲတမ်းနှင့် စပ်လျဉ်း၍ အသေးစိတ်မေးမြန်းကြပြန်သည့်အခါ အလ္လာဟ် အရှင်မြတ်သည် ဤ မုကဒ္ဒပါဌ်တော်ကို ထုတ်ပြန် ပို့ချတော်မူလေသည်။

အမွေဆိုင်သူ အစစ်အမှန်မှာ မိဘနှင့်သားသမီးများဖြစ်ကြ၏။ ထိုသူများမရှိခဲ့လျှင် ဘတူ၊ မိတူ၊ အစ်ကိုအရင်း၊ ညီအရင်း၊ မောင်အရင်း၊ အစ်မအရင်း၊ နှမအရင်း၊ ညီအရင်းများသည် သား သမီးများ၏ အခွင့်အလမ်းရရှိကာ အမွေရရှိကြ၏။ အကယ်၍ ဘတူ၊ မိတူများ မရှိခဲ့လျှင် ဘတူမိကွဲများ အမွေရရှိကြ၏။ အစ်မ၊နှစ်မ တယောက်ရှိလျှင် အမွေတဝက်ဆိုင်၏။ နှစ်ယောက်ဖြစ်လျှင်၊ သို့မဟုတ် နှစ်ယောက်ထက် ပိုလျှင် သုံးပုံနှစ်ပုံ အမွေပိုင်ဆိုင်၏။ အကယ်၍ အမွေဆိုင်များတွင် ယောကျ်ား၊ မိန်းမရှိနေခဲ့ကြလျှင် ယောကျ်ားနှစ်စု၊ မိန်းမတစု အမွေဆိုင်၏။ အကယ်၍ အမွေဆိုင်များတွင် အစ်မ၊ ညီမ မရှိဘဲ အစ်ကို၊ မောင်များသာရှိလျှင် ထိုသူတို့သည် ထိုသေသူ အစ်မ၊ နှမ၏ အမွေကို ဆိုင်ကြ၏။ (ထိုသူများသည် အဆွဗဟ်များ ဖြစ်ကြသည့်အတွက် ယင်းသူတို့အဘို့ အမွေဝေစုသတ်မှတ်ခြင်းမရှိပေ)။

မိတူဘကွဲ မောင်နှမများ၏ အမွေခွဲတမ်းသည် ကုရ်အာန် (၄း၁၂) တွင် ပါရှိခဲ့၏။

الْأُنْثَيَيْنِ ۗ يُبَيِّنُ اللَّهُ لَكُمْ أَنْ تَضِلُّوا ۗ وَاللَّهُ بِكُلِّ شَيْءٍ عَلِيمٌ ﴿١٧٦﴾

(အကယ်၍ ထိုနှမသော်၎င်း၊ အစ်မသော်၎င်း၊ သေဆုံး၍) ၎င်း၌ သားသမီး တစုံတယောက်မျှ မရှိခဲ့ပါလျှင် ထို(ကလာလဟ်) ယောကျ်ားသည်၎င်း၊ (ထားရှိခဲ့သောပစ္စည်းအားလုံး)ကို အမွေဆိုင်၏။ [၁] တဖန်အကယ်၍ (သေဆုံးသော ထို "ကလလာဟ်" ယောကျ်ား၌) အစ်မ (သို့မဟုတ် အစ်မနှင့် နှမ) နှစ်ယောက်ရှိခဲ့ကြပါလျှင်၊ ၎င်းတို့နှစ်ဦးသည် ထို "ကလာလဟ်" ယောကျ်ား ထားရှိခဲ့သော အမွေပစ္စည်းအနက်မှ သုံးပုံနှစ်ပုံကို ရရှိကြလတ္တံ့။

အကယ်၍သာ ၎င်း(သေဆုံးသူ 'ကလာ လဟ်' ယောကျ်ား အမွေစားအမွေခံ)တို့သည် ညီ အစ်ကို မောင်နှမများ၊ ယောကျ်ားရော မိန်းမပါ ရှိနေကြပါမူ၊ ယောကျ်ား(တယောက်)သည် မိန်းမ နှစ်ယောက်၏ ဝေစုဝေပုံနှင့် ညီတူညီမျှ ရရှိပေအံ့။ အလ္လာဟ်အရှင်မြတ်သည် အသင်တို့ လမ်းမှားသို့ မရောက်ကြစေရန် (ဤအမိန့်ပညတ်တော်များကို) အသင်တို့အား *ရှင်းလင်းစွာ မိန့်ကြားတော် မူလေသည်။* [၂] ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။ [၃]

---

(၂) ဥပမာ – ယောကျ်ားတယောက် သေဆုံး၏။ ထိုသူ၌ မိဘ၊ သားသမီး မရှိ။ အစ်မ သို့မဟုတ် နှမ တယောက် ရှိ၏။ သို့ဖြစ်လျှင် ထိုအစ်မ၊ နှမသည် အမွေတဝက်ဆိုင်၏။ (ကျန်တဝက်သည် အဆွဗဟ်ရှိက ထိုအဆွဗဟ်ရမည်၊ အဆွဗဟ် မရှိက ထိုအစ်မ၊ သို့မဟုတ် နှမပင် ရရှိမည်ဖြစ်၏။)

(၁) ဥပမာ – မိန်းမတယောက် သေဆုံး၏။ ထိုသူမ၌ မိဘ၊ သားသမီး မရှိ။ ဘတူမိတူ သို့မဟုတ် ဘတူ မိကွဲ အစ်ကို၊ မောင် ရှိ၏။ သို့ဖြစ်လျှင် ထိုသူများသည် အဆွဗဟ်ဖြစ်သည့်အတွက် အမွေဆိုင်ကြ၏။ အကယ်၍ ထိုသေဆုံးသူမိန်းမ၌ သမီးရှိလျှင်သမီးဖြစ်သူသည် မိမိအမွေရယူပြီးနောက် ကျန်သောအမွေကို ထိုမောင်များ ဆိုင်ကြ၏။ အကယ်၍ ထိုသေဆုံးသူမိန်းမ၌ မိတူဘကွဲများ ရှိလျှင် ထိုသူတို့သည် ခြောက်ပုံတပုံ အမွေဆိုင်ကြ၏။ ဤအကြောင်း ကုရ်အာန်(၄:၁၂)တွင် ပါရှိ၏။

ဤကဏ္ဍ၏ အစတွင်လည်း အမွေခွဲတမ်းအကြောင်းပါရှိ၏၊ အလယ်တွင်လည်း ပါရှိ၏၊ ➤➤




بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

يٰٓاَيُّهَا الَّذِيْنَ اٰمَنُوْٓا اَوْفُوْا
بِالْعُقُوْدِ ۭ اُحِلَّتْ لَكُمْ
بَهِيْمَةُ الْاَنْعَامِ اِلَّا مَا يُتْلٰى
عَلَيْكُمْ غَيْرَ مُحِلِّي الصَّيْدِ
وَاَنْتُمْ حُرُمٌ ۭ اِنَّ اللّٰهَ
يَحْكُمُ مَا يُرِيْدُ ①

## ခဲဘွယ်ဘောဇဉ်ကဏ္ဍ

အစဉ် သနားကြင်နာ ညှာတာတော်မူထသော၊
အနန္တကရုဏာရှင် ဖြစ်တော်မူထသော
အလ္လာဟ်အရှင်မြတ်၏ နာမတော်ဖြင့် အစပြုပါ၏။

၁။ အို-“မုအ်မင်န်” သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် (မိမိတို့ထားရှိကြလေသော) ပဋိညာဉ် ကတိဝန်ခံချက်များအတိုင်း လိုက်နာဆောင်ရွက်ကြလေကုန်။ (လာလတ္တံ့သော မုက္ခပါဌ်တော်၌ ) အသင်တို့အား ကြားနာစေအံ့သော အရာများမှအပ (ကုလားအုဋ်၊ ကျွဲ၊ နွား၊ သိုး၊ ဆိတ်ကဲ့သို့သော) ခြေလေးချောင်းရှိသော တိရစ္ဆာန်တို့သည်ကား အသင်တို့အတို့ (“ဟလာလ်” ဟူ၍ စားသုံး) ခွင့်ပြုထားပြီးဖြစ်ချေသတည်း။ သို့ရာတွင် အသင်တို့သည် (“ဟဂျ်”ပြုရန်အတွက်) “အိဟ်ရာမ်” ဝတ်ရုံကို ဝတ်ဆင်ပြီးဖြစ်နေကြစဉ် အမဲလိုက်ခြင်းကို (“ဟလာလ်”) ခွင့်ပြုပြီးဖြစ်သည်ဟူ၍ မထင်မှတ်မယူဆကြရပေ။ စင်စစ်ကေန် အလ္လာဟ်အရှင်မြတ်သည်မိမိ အလိုတော်ရှိရာကိုသာ အမိန့်ပေးတော်မူပေသတည်း။

---

➤➤ အဆုံးတွင်လည်း ပါရှိ၏။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် သက်ဆိုင်ရာ အမွေဆိုင်တို့အား တရားတော်နှင့်အညီ အမွေခွဲဝေပေးခြင်းသည် အဘယ်မျှအရေးကြီးသည်ကို ကောင်းစွာသိနိုင်ပေသည်။ (ထာနဝီ)။

(၂) အလ္လာဟ်အရှင်မြတ်သည် လောကီ၊ လောကုတ္တရာကိစ္စအဝဝတို့တွင် လူသားတို့အား တရားလမ်းမှန်ရကြစေရန် အလို့ငှာ အမိန့်ပညတ် အရပ်ရပ်ကို ရှင်းလင်းစွာ မိန့်ကြားတော် မူခြင်းဖြစ်၏။ ဤကား အလ္လာဟ်အရှင်မြတ်၏ အလွန်ကြီးမားလှစွာသော ကျေးဇူးတော်ပင်တည်း။

(၃) အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသော အရှင်ဖြစ်တော်မူပေရာ ထိုအရှင်မြတ်၏ အမိန့်ပညတ်အရပ်ရပ်ကို လူသားတို့ လိုက်နာကျင့်သုံးပါက နှစ်ဘဝ ၏ သုခချမ်းသာအဖြာဖြာကို ခံစားကြရမည်မှာ မုချမလွဲတည်း။

يَاَيُّهَا الَّذِيْنَ اٰمَنُوْا لَا تُحِلُّوْا شَعَآئِرَ اللّٰهِ وَلَا الشَّهْرَ الْحَرَامَ وَلَا الْهَدْيَ وَلَا الْقَلَآئِدَ وَلَآ آٰمِّيْنَ الْبَيْتَ الْحَرَامَ يَبْتَغُوْنَ فَضْلًا مِّنْ رَّبِّهِمْ وَرِضْوَانًا ؕ وَاِذَا حَلَلْتُمْ فَاصْطَادُوْا ؕ وَلَا يَجْرِمَنَّكُمْ شَنَاٰنُ قَوْمٍ اَنْ صَدُّوْكُمْ عَنِ الْمَسْجِدِ الْحَرَامِ اَنْ تَعْتَدُوْا ۘ وَتَعَاوَنُوْا عَلَى الْبِرِّ وَالتَّقْوٰى ۪ وَلَا تَعَاوَنُوْا عَلَى الْاِثْمِ

၂။ အို-"အီမာန်" ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိကြသူ "မုအ်မင်န်" အပေါင်းတို့၊ အသင်တို့ သည် *အလ္လာဟ်အရှင်မြတ်၏ (သာသနာတော်၏) ထူးခြားထင်ရှားသော အထိမ်းအမှတ်တို့ကိုင်း၊* [၁] *ထူးမြတ်သော လများကိုင်း၊* [၂] "ဟရမ်" ဟူ၍ သတ်မှတ်ထားသော နယ်နိမိတ်အတွင်း ပြုလုပ်မည် ဖြစ်သော *"ကုရ်ဗာနီ" သားကောင်ကိုင်း၊* [၃] ကုရ်ဗာနီ ပြုလုပ်ရန်အတွက် လည်ပင်းတွင် လည်ဆွဲ၊ *ပန်းကုံး၊ အမှတ်အသား တခုခု ဆွဲထားသော ကုရ်ဗာနီ သားကောင်များကိုင်း၊* [၄] မိမိတို့အား မွေးမြူတော် မူသောအရှင်မြတ်၏ ကျေးဇူးတော်နှင့်နှစ်သက်မှုကို ရှာဖွေဆည်းပူးခြင်းအားဖြင့် "အလ်ဗိုက်သုလ်ဟရာမ်" ထူးမြတ်သော အိမ်တော် (ဝါ) "ကအ်ဗဟ်" ကျောင်းတော်သို့ သွားရောက်ရန် ရည်စူးကြကုန် သောသူတို့ကိုင်း၊ မရိုမသေ မလေးမခန့် မပြုကြ ကုန်လင့်။ ၎င်းနောက် အသင်တို့သည် (မိမိတို့) "အိဟ်ရာမ်" ဝတ်ရုံကို ချွတ်ပြီးကြ လေသောအခါ အမဲလိုက်ခြင်းကို (ပြုလိုက)ပြုကြလေကုန်။

(၁) "အလ္လာဟ် အရှင်မြတ်၏ ကြီးကဲ မြင့်မြတ်ခြင်းနှင့် ကိုးကွယ်ရာအရှင် ဖြစ်တော် မူခြင်းအတွက် သတ်မှတ်ထားသော အမှတ်အသား၊ အထိမ်းအမှတ်များသည် "အလ္လာဟ်အရှင်မြတ်၏ ရှုအာအစ်ရ်" ပင်တည်း။ ထိုအထိမ်းအမှတ်များတွင် ဟရမ်တော်၊ ဗိုင်တုလ္လာဟ်၊ ဂျမရာတ်၊ ဆွဖါ၊ မရ်ဝဟ်၊ 'ဟဒ်ယ်' ကုရ်ဗာနီသားကောင်၊ အစ်ဟ်ရာမ်၊ မာစ်ဂျိဒ်ဗလီများ၊ ကောင်းကင်ကျကျမ်းဂန်များနှင့် သာသနာရေးဆိုင်ရာ အမိန့်ပညတ်၊ တာဝန်အရပ်ရပ်တို့သည် အကျုံးဝင်၏"။

သာသနာရေးဆိုင်ရာ အထိမ်းအမှတ်များနှင့် စပ်လျဉ်းသော ပညတ်ချက်များကို ဆန့်ကျင်ခြင်းသည် ထိုအထိမ်းအမှတ်များကို မရိုမသေ မလေးမခန့် ပြုရာရောက်သည်။ ဥပမာ-ဟရာမ်အတွင်း အမဲမလိုက်ရဟု ပညတ်ထား၏။ အကြင်သူတဦးသည် ဟရာမ်အတွင်း အမဲလိုက်သော် ထိုသူသည် ဟရာမ်ကို မရိုမသေ မလေးမခန့်ရာရောက်၏။ ဟရာမ်ကို မလေးမခန့်ပြုခြင်းသည် အလ္လာဟ်အရှင်မြတ်အား မလေးမခန့်ရာ ရောက်ပေသည်။

(၂) ထူးမြတ်သောလများမှာ (၁) ဇုလ်ကအ်ဒဟ်၊ (၂) ဇုလ်ဟိဂ်ျဂျဟ်၊ (၃) မုဟရ်ရမ်၊ (၄) ရဂျဗ်လများဖြစ်၏။ ထိုလများအကြောင်း ကုရ်အာန် (၂း၁၉၄၊ ၂း၂၁၇၊ ၉း၃၆) တွင်ပါရှိ၏။ ➤➤

وَالْعُدْوَانِ ۖ وَاتَّقُوا اللَّهَ ۖ إِنَّ اللَّهَ شَدِيدُ الْعِقَابِ ②

ၚင်းပြင် အသင်တို့သည် အကြင်လူမျိုးတမျိုးကို မုန်းတီးခြင်းသည် အသင်တို့အား (တရားစည်းမျဉ်းကို) ကျူးလွန်ဖောက်ဖျက်ရန် လှုံ့ဆော်ရန်သည် မရှိစေရ။ ထိုလူမျိုးသည် ("ဟုဒိုဗီယဟ်" တွင် စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုသောနှစ်တွင်) အသင်တို့အား "ကအ်ဗဟ်" ကျောင်းတော်သို့ (သွားရောက်ခြင်း)မှ ပိတ်ပင်တားဆီးခဲ့ကြလေသည်။

ထို့ပြင်တဝ အသင်တို့သည် ကောင်းမှုကုသိုလ်ပြုရာ၌ၚင်း၊ မကောင်းမှုဒုစရိုက်မှ ကြဉ်ရှောင်ရာ၌ၚင်း၊ အချင်းချင်း ကူညီယိုင်းပင်းကြလေကုန်။ သို့ရာတွင် ပြစ်မှုဒုစရိုက်ကို ပြုကျင့်ရာတွင်ၚင်း၊ ကျူးကျော် စော်ကားရာတွင်ၚင်း၊ အချင်းချင်း ယိုင်းပင်းကူညီခြင်းကို မပြုကြကုန်လင့်။ ထို့မှတပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကို ကြောက်ရွံ့ကြလေကုန်။

အလ္လာဟ် အရှင်မြတ်သည် မလွဲဧကန် ပြင်းထန်စွာ အပြစ်ပေးတော်မူသော အရှင်မြတ်ပင်တည်း။

---

>> "ထိုလများကို လေးစားခြင်း၏ သဘောကား ထိုလများတွင် အခြားလများထက် ပိုမို၍ ကုသိုလ်တရားပွားများရမည်။ 'တာက္ကဝါ'တရားကို စွဲမြဲစွာ စောင့်စည်းရမည်။ သူတပါးကို အနှောင့်အရှက်ပြုခြင်းမှ အထူးရှောင်ကြဉ်ရမည်။ အထူးသဖြင့် ဟဂ်ျပြုရန် သွားကြကုန်သော ဟာဂျီများအား အနှောင့်အရှက်မပြုရ၊ ဒုက္ခမပေးရ၊ တားဆီးခြင်းမပြုရ။ အဆိုပါ အမိန့်ပညတ်များကို ၁၂-လလုံး တွင် မုချ လိုက်နာကျင့်သုံးရမည် ဖြစ်သော်လည်း ထူးမြတ်သောလများတွင်ကား အထူးတလည် လိုက်နာကျင့်သုံးရပေမည်ဟူလို။

③ 'ဟဒ်ယ်' ဟူသည် ကုရ်ဗာနီ ပြုလုပ်ရန်အတွက် ကအ်ဗဟ် ကျောင်းတော်သို့ ယူဆောင်သွားသော ကုရ်ဗာနီ သားကောင်များကိုသာ ဆိုလိုသည်။ ကြည့်-ရာဃိဗ်၊ မာဂျိဒီ။

④ သားကောင်များ၏ လည်ပင်းတွင် လည်ပတ်တပ်ဆင်ထားခြင်းသည် အလ္လာဟ်အရှင်မြတ်အား ရည်စူးထားသော သားကောင်ဖြစ်ကြောင်း၊ ဟရမ်အတွင်း၌ပင် ဇဗာဟ်ပြုလုပ်မည်ဖြစ်ကြောင်း အမှတ်သညာဖြစ်၏။ ကြည့်-မာဂျိဒီ။ တ-၂၊ စ-၂၃၅၊ အအ-၆။ ထာနဝီ၊ တ-၃၊ စ-၆၄။

حُرِّمَتْ عَلَيْكُمُ الْمَيْتَةُ وَالدَّمُ
وَلَحْمُ الْخِنْزِيرِ وَمَا أُهِلَّ لِغَيْرِ
اللَّهِ بِهِ وَالْمُنْخَنِقَةُ
وَالْمَوْقُوذَةُ وَالْمُتَرَدِّيَةُ
وَالنَّطِيحَةُ وَمَا أَكَلَ السَّبُعُ
إِلَّا مَا ذَكَّيْتُمْ وَمَا ذُبِحَ عَلَى
النُّصُبِ وَأَنْ تَسْتَقْسِمُوا
بِالْأَزْلَامِ ۚ ذَٰلِكُمْ فِسْقٌ ۗ الْيَوْمَ
يَئِسَ الَّذِينَ كَفَرُوا مِنْ
دِينِكُمْ فَلَا تَخْشَوْهُمْ
وَاخْشَوْنِ ۚ

၃။ အလိုအလျောက် သေသော တိရစ္ဆာန်သည် ၎င်း၊ သွေးသည်၎င်း၊ ဝက်တိရစ္ဆာန်၏ အသားသည် ၎င်း၊ အလ္လာဟ် အရှင်မြတ်မှတပါး အခြားကို ရည်စူးထားသော တိရစ္ဆာန်သည်၎င်း၊ လည်မျို (ညှစ်၍ဖြစ်စေ၊ လိမ်၍ဖြစ်စေ) သေရသောတိရစ္ဆာန် သည်၎င်း၊ ရိုက်နှက်၍ဖြစ်စေ၊ ထိခိုက်၍ဖြစ်စေ သေသော တိရစ္ဆာန်သည်၎င်း၊ မြင့်ရာမှကျ၍ သေ သော တိရစ္ဆာန်သည်၎င်း၊ ဦးချိုဖြင့်ဝှေ့ခတ်ခြင်းခံရ၍ သေသော တိရစ္ဆာန်သည်၎င်း၊ (အသက်မထွက်မီ တရားတော်နှင့်အညီ) အသင်တို့ "ဇဗ်ဟ်" လှီးဖြတ် နိုင်ခဲ့သော တိရစ္ဆာန်များမှအပ သားရဲတိရစ္ဆာန်များ ကိုက်ခဲ သတ်ဖြတ်ထားသော တိရစ္ဆာန်သည်၎င်း၊ အသင်တို့အပေါ်၌ *ဟရာမ်ဟူ၍ တားမြစ်ထားပြီး ဖြစ်လေပြီ။* [1] ရုပ်ပွား ဆင်းတုများ ထားရှိရာဌာန များတွင် ပူဇော်သက္ကာပြုရန် လှီးဖြတ်ထားသော တိရစ္ဆာန်များသည်၎င်း၊ *မဲမြှားတို့ဖြင့်* အသင်တို့ *ဝေစုဝေပုံ ခွဲခြင်းသည်၎င်း၊* [2] အသင်တို့အဘို့ (စားသုံးခြင်းမပြုကြရန်) ဟရာမ် တားမြစ်ထားပြီး ဖြစ်ချေသည်။ ဤသည်တို့ကား ပြစ်မှုဒုစရိုက်များ ပင်တည်း။

---

(၁) ကုရ်အာန်ကျမ်းမြတ်(၅း၁) "သို့ရာတွင် အသင်တို့အားကြားနာစေအံ့သောအရာများ" ဟူသော ခြွင်းချက်ပါရှိ၏။ ဤမုဗ္ဗာရက်ပါဌ်တော်တွင် အဆိုပါခြွင်းချက်ကို အကျယ်မိန့်ဆိုထား တော်မူသည်။ အစ္စလာမ်တရားတော်အရ 'ဇဗ်ဟ်' လှီးဖြတ်ခြင်းမပြုဘဲသေသော တိရစ္ဆာန်၊ 'ဒမွန်မတ်စ်ဖူထွန်' ခေါ် စီးလျက်ရှိသောသွေး၊ ဝက်တိရစ္ဆာန်၏ အသားနှင့် ၎င်းဝက်တိရစ္ဆာန်၏ ကိုယ်ခန္ဓာအစိတ်အပိုင်း အားလုံး၊ အလ္လာဟ်အရှင်မြတ်မှတပါး အခြားအရာကို ရည်စူးတသ၍ သတ်ဖြတ်ထားသောအရာများ ဟရာမ်ဖြစ်ကြောင်း၊ ကုရ်အာန်(၂း၁၇၃)တွင် ပါရှိခဲ့၏။

(၂) အရဗ်လူမျိုးတို့တွင် စပ်တူဝယ်၍ မဲချပြီးခွဲဝေယူသော အလေ့အထ တရပ်ရှိ၏။ ဥပမာ–ကုလားအုပ်ကောင်ကို စပ်တူဝယ်ပြီးလျှင် အသားကို ခွဲဝေယူရာ၌ ငွေစုပါဝင်သူတို့အား ပါဝင်ထားသည့်ငွေ၏ အချိုးကျအတိုင်း မခွဲဝေဘဲ မြှားနှိုက်၍ ခွဲဝေကြ၏။ ယင်းသူတို့ထံတွင် ဤကိစ္စအတွက် မြှားဆယ်ချောင်းရှိ၏။ မြှားခုနှစ်ချောင်းတွင် သီးသန့် အမှတ်အသားများ ပြုလုပ်ထား၏။ မြှားသုံးချောင်းတွင် အမှတ်အသား တစုံတရာမရှိချေ။ ➤➤

ٱلْيَوْمَ أَكْمَلْتُ لَكُمْ دِينَكُمْ وَأَتْمَمْتُ عَلَيْكُمْ نِعْمَتِى وَرَضِيتُ لَكُمُ ٱلْإِسْلَٰمَ دِينًا ۚ فَمَنِ ٱضْطُرَّ فِى مَخْمَصَةٍ غَيْرَ مُتَجَانِفٍ لِّإِثْمٍ ۙ فَإِنَّ ٱللَّهَ غَفُورٌ رَّحِيمٌ ③

ယနေ့အဘို့မှာကား ကာဖိရ် သွေဖည် ငြင်းပယ်သော သူတို့သည် အသင်တို့၏ သာသနာကို (ဖျက်ဆီး နိုင်ခြင်း)မှ မျှော်လင့်ချက် ကင်းမဲ့ကြပြီး ဖြစ်ရာ အသင်တို့သည် ထိုသူတို့ကို စိုးရိမ်ကြောက်ရွံ့ခြင်း မရှိကြဘဲ ငါအရှင်မြတ်ကိုသာလျှင် ကြောက်ရွံ့ကြလေကုန်။

ယနေ့သော်ကား ငါ အရှင်မြတ်သည် အသင်တို့အဘို့ အသင်တို့၏ ဒီန်သာသနာကို ပြည့်စုံစေတော်မူခဲ့လေပြီ။ ၎င်းပြင် ငါအရှင်သည် မိမိ၏ကျေးဇူးတော်များကို အသင်တို့အဘို့ အပြည့်အစုံ ချီးမြှင့်ပေးသနားတော် မူခဲ့လေပြီ။ ၎င်းပြင် ငါအရှင်သည် အစ္စလာမ် သာသနာကို အသင်တို့အဘို့ 'ဒီန်' သာသနာတော်အဖြစ် သဘောတူနှစ်မြို့တော်မူခဲ့လေပြီ။ သို့ရာတွင် (အထက်တွင် မြစ်တားထားခဲ့သော အရာများနှင့် စပ်လျဉ်း၍ သိအပ်သော အချက်တရပ်မှာ) မည်သူမဆို အပြင်းအထန် ဆာလောင်မွတ်သိပ်၍ မလွှဲမရှောင်သာသည့် အခြေသို့ ဆိုက်ရောက်ခဲ့သဖြင့် ထိုသူသည် ပြစ်မှုကို နှစ်သက်လိုလားခြင်း မရှိဘဲ (မြစ်တားထားသော အရာများကို စားသုံးမိပါက) မချွတ်ဧကန် အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်း ချမ်းသာခွင့်ပေးတော်မူသောအရှင်၊ အလွန်တရာ ကြင်နာသနားတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

---

➤➤ အသီးသီး မြှားကို နှိုက်ကြရ၏။ မဲမြှားနှိုက်ရာတွင် မိမိတို့နှိုက်ယူသော မဲမြှား၌ပါရှိသည့် အမှတ်အသားအတိုင်း ဝေစုရရှိ၏၊ အကယ်၍ အမှတ်အသား တစုံတရာမပါရှိသော ဗလာမဲမြှားကို နှိုက်မိလျှင် ထိုသူသည် မည်သည့်ဝေစုဝေပုံမျှ မရရှိတော့ပေ။ ဤသို့အားဖြင့် ငွေစုပါဝင်သူများအနက် အချို့သည် မိမိရထိုက်သည်ထက်ပင် ပို၍ရ၏။ အချို့သည် မိမိရထိုက်သော ဝေစုကိုပင် မရတော့ပေ။ ဤသည်ကား အလောင်းအစား တရပ်ပင်ဖြစ်၏။ (အလောင်းအစားပြုခြင်းသည် ဟရာမ်ဖြစ်ပေသည်) ကြည့်-ကုရ်အာန်(၂း၂၁၉)။

يَسْـَٔلُوْنَكَ مَاذَآ اُحِلَّ لَهُمْ قُلْ اُحِلَّ لَكُمُ الطَّيِّبٰتُ وَمَا عَلَّمْتُمْ مِّنَ الْجَوَارِحِ مُكَلِّبِيْنَ تُعَلِّمُوْنَهُنَّ مِمَّا عَلَّمَكُمُ اللّٰهُ فَكُلُوْا مِمَّآ اَمْسَكْنَ عَلَيْكُمْ وَاذْكُرُوا اسْمَ اللّٰهِ عَلَيْهِ وَاتَّقُوا اللّٰهَ اِنَّ اللّٰهَ سَرِيْعُ الْحِسَابِ ۝٤

၄။ (အို-နဗီတမန်တော်) ထိုသူတို့သည် မိမိတို့ (စားသုံးခြင်း) အလို့ငှာမည်သည့် (တိရစ္ဆာန်များ) ကို "ဟလာလ်" ခွင့်ပြုထားပြီး ဖြစ်ပါသနည်းဟု အသင့်အား (လာရောက်) မေးမြန်းကြကုန်၏။

အသင်သည် (၎င်းတို့အားဤသို့) ဖြေကြားပါလေ။ (အို-အချင်းတို့)၊ အသင်တို့ (စားသုံးရန်) အလို့ငှာ စင်ကြယ်သန့်ရှင်းသော(တိရစ္ဆာန်)ဟူသရွေ့တို့သည် 'ဟလာလ်' ခွင့်ပြုပြီးဖြစ်ကုန်၏။ ၎င်းပြင် အသင်တို့သည် အလ္လာဟ်အရှင်မြတ် သင်ကြားပြသတော်မူသော နည်းနိဿျည်းအတိုင်း မိမိတို့၏ အမဲလိုက်တိရစ္ဆာန်များကို (အမဲလိုက်ရန် စည်းကမ်းများကို တတ်သိ လိမ်မာအောင်) သင်ကြားပြီး လွှတ်လိုက်၍ အသင်တို့အတို့ ဖမ်းဆီးခဲ့သော အမဲကိုလည်း [၁] အသင်တို့သည် စားသုံးကြလေကုန်။ သို့ရာတွင် အသင်တို့သည် (ထိုအမဲလိုက်တိရစ္ဆာန်ကို အမဲလိုက်ရန် အလို့ငှာ လွှတ်လိုက်သောအခါ) အလ္လာဟ် အရှင်မြတ်၏ နာမံတော်ကို တသကြလေကုန်။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် လျင်မြန်စွာ စစ်ဆေးစောကြောတော်မူမည့် အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) အမဲလိုက်ခွေး၊ သိန်းစသည်တို့၏ ဖမ်းဆီးထားသော သားကောင်များကို အောက်ပါစည်းကမ်းချက်များနှင့် ညီညွတ်ပါက စားသုံးပိုင်ခွင့်ရှိ၏။

(၁) အမဲလိုက် တိရစ္ဆာန်သည် သင်ကြားထားသော တိရစ္ဆာန်ဖြစ်ခြင်း။

(၂) အမဲလိုက်ရန်ရည်စူး၍ အမဲလိုက်တိရစ္ဆာန်ကိုလွှတ်ခြင်း။

(၃) ရှရီအတ်တရားတော်ကအသိအမှတ်ပြုထားသောနည်းဖြင့် အမဲလိုက်တိရစ္ဆာန်များကို သင်ကြားထားခြင်း။ ဆိုလိုသည်ကား-အမဲလိုက်ခွေးကို သင်ကြားရာတွင် ခွေးသည် မိမိဖမ်းဆီးရမိသော သားကောင်ကို မစားစေရ၊ သိန်းကို သင်ကြားရာတွင် သိန်းသည် သူ့ကိုခေါ်လိုက်သည့်အခါ (ထိုသိန်းသည် သားကောင်နောက်ကို လိုက်နေလျက် ရှိစေကာမူ) ပြန်လှည့်လာစေရမည်။ အကယ်၍ ခွေးသည် မိမိ ဖမ်းဆီးရမိထားသော သားကောင်ကို မိမိကိုယ်တိုင်စားခဲ့သော်၊ သိန်းသည် ပြန်လှည့်လာရန် ခေါ်ရာတွင် မလာခဲ့သည်ရှိသော် ➤➤

اَلْيَوْمَ اُحِلَّ لَكُمُ الطَّيِّبٰتُ ۭ وَطَعَامُ الَّذِيْنَ اُوْتُوا الْكِتٰبَ حِلٌّ لَّكُمْ ۠ وَطَعَامُكُمْ حِلٌّ لَّهُمْ ۡ وَالْمُحْصَنٰتُ مِنَ الْمُؤْمِنٰتِ وَالْمُحْصَنٰتُ مِنَ الَّذِيْنَ اُوْتُوا

၅။ (အို–မွတ်စ်လင်မ်အပေါင်းတို့) ယနေ့ စင်ကြယ်သန့်ပြန့်သော အစားအစာဟူသမျှတို့သည် အသင်တို့အဖို့ စားသုံးခွင့်ပြုပြီးဖြစ်လေသည်။ ၎င်းပြင် (ရှေးအထက်) *ကျမ်းဂန်ကို ချီးမြှင့်ပေးသနားတော်မူခြင်း ခံကြရသော သူတို့၏ စားသုံးဘွယ်ရာများသည်လည်း* [၁] အသင်တို့အတို့ (စားသုံး) ခွင့်ပြုပြီးဖြစ်ချေသည်။ ထိုနည်းတူစွာ အသင်တို့၏ စားသုံးဘွယ်ရာများသည်လည်း အသင်တို့အတို့ (စားသုံး)ခွင့်ပြုပြီးဖြစ်၏။

---

➤➤ ထိုတိရစ္ဆာန်များသည် သားကောင်များကို မိမိတို့၏သခင်များအတွက် မဟုတ်ဘဲ မိမိတို့အတွက်သာ ဖမ်းဆီးကြသည်ဟု ယူဆရပေမည်။

(၄) အမဲလိုက်တိရစ္ဆာန်များကို လွှတ်သည့်အချိန်တွင် အလ္လာဟ်အရှင်မြတ်၏ နာမ်တော်ကို ရွတ်ဆိုတသ၍ လွှတ်ခြင်း။ (ဝါ) "ဗစ္စမင်လ္လာဟ် အလ္လာဟု အတ်က်ဗရ်" ဟုဆိုခြင်း။

(ဤစည်းကမ်းချက် ၄–ရပ်သည် ကုရ်အာန်ကျမ်းမြတ်တွင်ပါရှိ၏။)

(၅) အမဲလိုက်တိရစ္ဆာန်များသည် သားကောင်များ၌ ဒဏ်ရာဒဏ်ချက်ဖြစ်စေပြီး သွေးယိုစီးစေခြင်း။ (ဤ ပဉ္စမစည်းကမ်းချက်သည် အေမာမ်အဗူဟနီဖတ်သခင် အသိအမှတ်ပြုသော စည်းကမ်းချက်ပင် ဖြစ်သည်။ ဤစည်းကမ်းချက်ပါ သဘောကို ဤမုက္ခပါဠ်တော်တွင် ပါရှိသည့် "ဂျပါရိဟ်" ဟူသောပုဒ်က ညွှန်လျက်ရှိ၏။

အထက်ပါ စည်းကမ်းချက်များအနက် စည်းကမ်းချက်တရပ်ရပ် ချို့ယွင်းသည်ရှိသော် အမဲလိုက်တိရစ္ဆာန်များ၏ သားကောင်သည် မစားသုံးနိုင်ချေ။

ဤမုက္ခပါဠ်တော်တွင်ပါရှိသော ပညတ်တော်သည် တောတိရစ္ဆာန်များနှင့်သာ သက်ဆိုင်ပေသည်။ အိမ်မွေး တိရစ္ဆာန်များကိုကား "ဇဗ်ဟ်" မပြုလုပ်ဘဲ စားသုံးပိုင်ခွင့်မရှိချေ။ ဖမ်းဆီးရရှိသော သားကောင်များကိုလည်း "ဇဗ်ဟ်" ပြုရန်အချိန်ရရှိက "ဇဗ်ဟ်" ပြုလုပ်ရမည်။ "ဇဗ်ဟ်" မပြုလုပ်ပါကစားသုံးပိုင်ခွင့်မရှိချေ။ (ထာနဝီ)

(၁) ဤမုက္ခပါဠ်တော်တွင်ပါရှိသည့် 'တွအာမ်' အစာအာဟာရဟူသည် စားသုံးပိုင်သော တိရစ္ဆာန်များအနက် 'ကိတာဗီ' များ 'ဇဗ်ဟ်' ပြုလုပ်ထားသော တိရစ္ဆာန်များကို ဆိုလိုသည်။

ကြည့်–ကဗီရ်၊ ကုရ်တုဗီ၊ ရူဟုလ်မအာနီ၊ ဂျဆ္ဆွာဆ္ဆ်၊ မာဂျိဒီ။

'ကိတာဗီ' များ ဇဗ်ဟ်ပြုလုပ်ထားသော အသားသည် စားသုံးပိုင်ခွင့်ရှိ၏။ သို့ရာတွင် ကိုတာဗီများ၏ အခြေအနေ ပြောင်းလွဲလာခဲ့ပေရာ ထိုကိတာဗီများဇဗ်ဟ်ပြုလုပ်ထားသော အသားနှင့် စပ်လျဉ်း၍ မွေ့သတ်ရှင်တို့၏ မွေ့သတ်များသည်လည်း ပြောင်းလွဲလာခဲ့ပေသည်။ ဤတွင် အချို့မွေ့သတ်များကို ရေးသားဖေါ်ပြလိုပါသည်။

(က) အရဗ်ယဟူဒီဖြစ်စေ၊ နဆွရာနီဖြစ်စေ၊ အရဗ်မဟုတ်သော ယဟူဒီဖြစ်စေ၊ နဆွရာနီဖြစ်စေ၊ ကိတာဗီ တယောက်သည် အလ္လာဟ်အရှင်မြတ်၏ နာမ်တော်ကိုရွတ်ဆို၍ ဇဗ်ဟ်ပြုလုပ်သော် ထို ဇဗ်ဟ် ပြုလုပ်ထားသော အသားကို စားသုံးပိုင်ခွင့်ရှိ၏။ အကယ်၍ နဆွရာနီတယောက်သည် (အလ္လာဟ်အရှင်မြတ်၏ နာမ်တော်ကို မရွတ်ဆိုဘဲ) တမန်တော်အီစာ၏အမည်ကို ရွတ်ဆို၍ ဇဗ်ဟ်ပြုလုပ်သည်ရှိသော် ဇဗ်ဟ်ပြုလုပ်သော ➤➤

➤➤ အသားသည် မစားသုံးပိုင်ချေ။ ဤကား အေမာမ်အဗူဟာနီဖတ်၊ အေမာမ်အဗူယူစုဖ်။ အေမာမ်မုဟမ္မဒ်၊ အေမာမ်ဇူရ်တို့၏ ယူဆချက်တည်း။ (ဂျဆ္ဆွာဆ္ဆ)

(ခ) အချို့ဓမ္မသတ်ရှင်များက အတိအကျယူဆကြသည်မှာ ကိတာဗီများ ဇဗ်ဟ်ပြုလုပ်ထားသော အသားကို စားသုံးပိုင်ခွင့်ရှိသည် ဆိုရာ၌ ၎င်းကိတာဗီများသည် အပြုအမူ၊ အပြောအဆို အစစအရာရာတွင် ကိတာဗီ အစစ်အမှန်များ ဖြစ်ကြရပေမည်။ မိရိုးဖလာအမည်ခံ ကိတာဗီများ မဖြစ်ကြရပေ။ မိရိုးဖလာအမည်ခံ ကိတာဗီများ ဇဗ်ဟ်ပြုလုပ်ထားသော အသားကို မစားသုံးပိုင်ပေ။

အမည်ခံ ကိတာဗီများ ဇဗ်ဟ်ပြုလုပ်ထားသော အသားကို မစားသုံးပိုင်သည့်အကြောင်းနှင့်စပ်လျဉ်း၍ အချို့ သာဝကကြီးများ၏ အဆုံးအဖြတ်ကို အောက်ပါအတိုင်း တွေ့ရှိရပေသည်။

"အသင်တို့သည် ဗနီတဃ်လိဗ်မျိုးနွယ်ဝင် နဆွရာနီများ၏ ဇဗ်ဟ်ပြုလုပ်ထားသော အသားများကို မစားကြကုန်လင့်၊ အဘယ့်ကြောင့်ဆိုသော် ထိုသူများသည် သေရည်သေရက် သောက်စားခြင်းမှအပ နဆ္ဆရာနီ ဘာသာ၏ မည်သည့်စည်းကမ်းချက်ကိုမျှ လိုက်နာကျင့်သုံးကြသည် မရှိချေဟု သာဝကကြီးအလီသခင်က မိန့်ကြားခဲ့သည်။ (အီဗ်နုဂျရီရ်)။

အသင်တို့သည် အရဗ်နဆွရာနီများ ဇဗ်ဟ်ပြုလုပ်ထားသော အသားများကိုငှ၊ အာရ်မေနီးယား နဆွရာနီများ ဇဗ်ဟ်ပြုလုပ်ထားသော အသားများကိုငှ မစားသုံးကြနှင့်ဟု သာဝကကြီး အီဗ်နုအဗ္ဗါစ်က မိန့်ကြားခဲ့သည်။ (အီဗ်နုဂျရီရ်)။

အထက်ပါ အဆုံးအဖြတ်အတိုင်း သာဝကကြီး အဗ်ဒုလ္လာဟ် အီဗ်နုအုမရ်နှင့် အာအေရှာသခင်မတို့ ကလည်း အဆုံးအဖြတ်ပေးခဲ့ကြသည်။ ထို့အတူပင် တာဗီအီ ဓမ္မသတ်ရှင်များဖြစ်သော တွာအူစ်နှင့် ဟစန်တို့က လည်း အဆုံးအဖြတ်ပေးခဲ့ကြလေသည်။ ကြည့်-ကုရ်တုဗီ၊ မာဂျီဒီ။

(ဂ) အေမာမ်မါလစ်က်က ကျွန်ုပ်သည် ထို(ကိတာဗီများ၏ ဇဗ်ဟ်ပြုလုပ်ထားသော အသား)ကို မက္ကရူဟ်ဟု ယူဆကြောင်း ပြောဆိုခဲ့၏။ သို့ရာတွင် အေမာမ်မာလစ်က ထိုအသားကိုဟရာမ်ဟူ၍ကား မဆိုချေ။ (ကုရ်တုဗီ)။

(ဃ) အချို့ပညာရှင်များကမူ ကိတာဗီများ၏ ဇဗ်ဟ် ပြုလုပ်ထားသော အသားသည် ချွင်းချက်မရှိ စားသုံးပိုင်သည်ဟု ဆိုကြ၏။

များစွာသောပညာရှင်တို့က ကိတာဗီများ ဇဗ်ဟ်ပြုလုပ်ထားသော အသားသည် စားသုံးပိုင်၏ဟု ယူဆကြသည်။ ဤသည် ရှအ်ဗီ၊ အတ္တာအ်၊ ဇုဟ်ရီ၊ မါက်ဟူလ်တို့၏ အဆိုတည်း။ (မအာလင်မ်)။

ဟစန်(ဗဆွရီတာဗီအီ)က ပြောကြားသည်မှာ အကယ်၍ ယဟူဒီ သို့မဟုတ် နဆွရာနီတဦးသည် ဇဗ်ဟ် ပြုလုပ်သည့်အခါ အလ္လာဟ်အရှင်မြတ်မှတပါး အခြားအရာ၏အမည်ကို ရွတ်ဆိုလျှင်၊ သို့ရွတ်ဆိုသည်ကို အသင်ကိုယ်တိုင်ကြားလျှင် ထိုအသားကို အသင်မစားနှင့်။ အကယ်၍ ထိုသူတို့၏ ဇဗ်ဟ်ပြုလုပ်မှုသည် အသင်၏ မျက်ကွယ်ရာတွင် ဖြစ်သည်ရှိသော အသင်သည် ထိုအသားကို စားပါလေ။ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် အသင့်အတို့ ဟလာလ်ပြုထားတော်မူသည်။(မအာလင်မ်။ ရူဟ်)။

အထက်ဖော်ပြပါ ကွဲလွဲချက်များသည် ကိတာဗီများ၏ ဇဗ်ဟ်ပြုလုပ်ထားသော အရာများနှင့်သာ သက်ဆိုင်၏။ ကိတာဗီများ၏ ဇဗ်ဟ်မပြုလုပ်သော (ဥပမာ လည်မျိုလိမ်သတ်သော) အရာများနှင့် စပ်လျဉ်း၍ကား စားသုံးပိုင်သည်၊ စားသုံးမပိုင်သည်ဟူသော ပြဿနာပင်မပေါ်ချေ။ ကြည့်-မာဂျီဒီ။

الْكِتٰبَ مِنْ قَبْلِكُمْ اِذَآ اٰتَيْتُمُوْهُنَّ اُجُوْرَهُنَّ مُحْصِنِيْنَ غَيْرَ مُسٰفِحِيْنَ وَلَا مُتَّخِذِيْٓ اَخْدَانٍ ؕ وَمَنْ يَّكْفُرْ بِالْاِيْمَانِ فَقَدْ حَبِطَ عَمَلُهٗ ۡ وَهُوَ فِى الْاٰخِرَةِ مِنَ الْخٰسِرِيْنَ ۝٥

ငင်းပြင် *သိက္ခာကိုစောင့်ထိန်းသော မွတ်စ်လင်မ် အမျိုးသမီးတို့သည်၎င်း၊* [၁] *အသင်တို့အလျှင် ကျမ်းဂန်ကို ချီးမြှင့်ပေးသနားတော်မူခြင်း ခံကြရသော သူတို့အနက်မှ ကာယိန္ဒြေကို စောင့်ထိန်းသော အမျိုးသမီးတို့သည်၎င်း၊* [၂] အကယ်၍ အသင်တို့သည် ထို အမျိုးသမီးတို့အား ၎င်းတို့၏ "မဟ်ရ်" ထိမ်းမြားကြေးများကိုပေးဆပ်၍ ထင်ထင်ပေါ်ပေါ် ကာမဂုဏ်လိုက်စားခြင်းနှင့် တိတ်တိတ်ပုန်း အမြှောင်မယားထားခြင်းမပြုဘဲ မိမိတို့၏သိက္ခာကို စောင့်ထိန်းခြင်းအားဖြင့်သာ ထိမ်းမြားကြပါမူ။ (ထိမ်းမြားခွင့်ပြုပြီးဖြစ်လေသည်)။ စင်စစ်သော်ကား မည်သူမဆို "အီမာန်" *ယုံကြည်မှုကို ပယ်ရှားပါလျှင်* [၃] ထိုသူ၏ (ပြုခဲ့သမျှသော) ကောင်းမှုသည် မလွဲဧကန် အလဟဿ အချည်းနှီးပင် ဖြစ်အံ့။ ၎င်းပြင် ထိုသူသည် နောင်တမလွန်ဘဝ၌လည်း ကျိုးယုတ်ပျက်စီးသော သူတို့တွင် အပါအဝင်ဖြစ်လတ္တံ့။

---

(၁) 'မုဟ်ဆွနာတ်' ဟူသည် ကြေးကျွန်မဟုတ်သော၊ ကာမေသုမိစ္ဆာစာရကံ ကျူးလွန်မှုမှကင်းစင်သော အမျိုးသမီးများကို ဆိုလိုသည်၊ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် ကာယိန္ဒြေရှိမှုသည် အဘယ်မျှ ကောင်းမြတ်သည်၊ ကာယိန္ဒြေ ထိန်းသိမ်းမှုသည် အဘယ်မျှအရေးကြီးသည်ကို ကောင်းစွာ သိရှိနိုင်ပေသည်။ သို့တစေလည်း ဤဂုဏ်ပုဒ်သည် တရားဥပဒေအရ မရှိမဖြစ်သော စည်းကမ်းချက် မဟုတ်ပေ။

"မုဟ်ဆွနာတ်" ဟူသည် ကြေးကျွန်မဟုတ် သူကောင်းဖြစ်သော ကာယိန္ဒြေရှိသော အမျိုးသမီးများကို ဆိုလိုသည်။ ဤသည် ထိမ်းမြားမှုမှန်ကန်ရန်အတွက် စည်းကမ်းချက်တရပ်မဟုတ်ပေ။ သို့ရာတွင် ဤသည် 'မုစ်တဟဗ္ဗ' နှစ်ခြိုက်ဘွယ်ရာ အချက်တရပ် မုချ ဖြစ်ပေသည်။ အဘယ့်ကြောင့်ဆိုသော် မွတ်စ်လင်မ်ကျွန်မိန်းမများနှင့်၎င်း၊ ကာယိန္ဒြေမဲ့သော အမျိုးသမီးများနှင့်၎င်း ထိမ်းမြားပိုင်ခွင့်ရှိခြင်းကြောင့်တည်း။(မဒါရစ်ကို)။

(၂) 'ကိတာဗီများ' ဇဗ်ဟ်ပြုထားသောအသားသည် မွတ်စ်လင်မ်တို့အဘို့ စားသုံးပိုင်ခွင့်ရှိသကဲ့သို့ မွတ်စ်လင်မ်များ ဇဗ်ဟ်ပြုထားသောအသားသည်လည်း ကိတာဗီများအဘို့ စားသုံးပိုင်ခွင့်ရှိပေသည်။ ယင်းကဲ့သို့ မွတ်စ်လင်မ်များနှင့် ကိတာဗီများအဘို့ အသီးသီး ဇဗ်ဟ်ပြုထားသောအသားသည် နှစ်ဦးနှစ်ဘက်လုံးအဘို့ အပြန်အလှန် စားသုံးပိုင်ခွင့် ရှိသော်လည်း၊ ထိမ်းမြားရာတွင်ကား ကိတာဗီအမျိုးသမီးများကို မွတ်စ်လင်မ်ယောကျ်ားများသည် ထိမ်းမြားယူပိုင်ခွင့် ရှိ၏၊ မွတ်စ်လင်မ်အမျိုးသမီးများကိုမူ ကိတာဗီယောကျ်ားများနှင့် ထိမ်းမြားပေးပိုင်ခွင့် မရှိချေ။ ဤအမိန့်တော်သည် ကိတာဗီအစစ်အမှန်နှင့်သာ သက်ဆိုင်၏။ မိရိုးဖလာအမည်ခံ ကိတာဗီများနှင့်ကားမသက်ဆိုင်ချေ။ (ထာနဝီ)

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوٓاْ إِذَا قُمۡتُمۡ إِلَى ٱلصَّلَوٰةِ فَٱغۡسِلُواْ وُجُوهَكُمۡ وَأَيۡدِيَكُمۡ إِلَى ٱلۡمَرَافِقِ

၆။ အို–မုအ်မင်သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် *"ဆွလာတ်" ဝတ်ပြုရန်ထကြသောအခါ* [၁] မိမိတို့၏မျက်နှာများကိုငင်း၊ လက်များကိုတံတောင်ဆစ်ပါငင်း၊ဆေးကြောကြလေကုန်။ထိုနည်းတူစွာအသင်တို့၏ဦးခေါင်းများကိုပွတ်သပ်ကြလေကုန်။ ငင်း ပြင် အသင်တို့ သည်မိမိ တို့ ၏ ခြေများကိုလည်းခြေမျက်စိများပါ (ဆေးကြောကြလေကုန်)။

---

(၆) ဤ မုကၠပါဠ် တော် တွင် ပါရှိ သည့် 'အီမာန်' ယုံကြည် ရမည့် အရာများကို ဆိုလိုသည်။ ထို ယုံကြည် ရမည့် အရာများတွင် အလ္လာဟ်အသျှင်မြတ်က ဟလါလ် ပြုထားတော် မူ သော်အရာ ကို ဟလာလ်ဟူ၍ယုံကြည်ခြင်း၊ ဟရာမ်ပြုထားတော်မူသောအရာကို ဟရာမ်ဟူ၍ ယုံကြည်ခြင်းလည်း အပါအဝင်ဖြစ်ပေသည်။

(၁) ဆွလာတ်ဝတ် ပြုရန်ထခြင်း ဟူသည် ဆွလာတ်ဝတ်ပြုရန် ရည်ရွယ်ခြင်းကို ဆိုလိုသည်။ ကြည့်–(ထာနဗီ)။

ဤမုကၠပါဠ်တော်၏ ပေါ်လွင်ထင်ရှားသော အဓိပ္ပါယ်အရ ဆွလာတ် ဝတ်ပြုရန် ရည်ရွယ်သူတိုင်း အပေါ်၌ ဝသျှူ ပြုရန် တာဝန်ရှိသူ 'မုဟ်ဒိဆ်' မဟုတ်သော်လည်း ဝသျှူပြုရန် တာဝန်ရှိသည်ဟု ယူဆဖွယ်ရာရှိ၏။ အမှန်မှာ ဝသျှူ ပြုရန်တာဝန် ရှိသူများ အပေါ်၌သာလျှင် ဝုသျှူ ပြုရန် တာဝန်ရှိပေသည်။ ဤကား 'ဣဇ္ဇ ဂျ်မာအ်' တည်း။

ဝသျှူ ရှိသူများအပေါ်၌ ထပ်မံ ဝသျှူ ပြုရန် တာဝန်မရှိသော်လည်း သန့်ရှင်းသည်ထက် ပိုမို၍ သန့်ရှင်း ရန်၊ စိတ်ဓါတ်ကြည်လင်ရန် အလို့ငှာ ထပ်မံ၍ ဝသျှူ ပြုလုပ်ခြင်းသည် ကောင်းမြတ်သော အမူပင် ဖြစ်၏။ တမန်တော်မြတ်နှင့်တကွ သာဝကကြီးများ အဗူဗက်ရ်၊ အုမရ်၊ အုဆမာန်၊ အလီသခင်တို့ သည် ဆွလာတ် ဝတ်ပြုသည့် အခါတိုင်းတွင် ဝသျှူ ပြုလေ့ရှိကြ၏။ ထို့အတူ အခြားမြောက်များစွာသော သာဝကကြီးများသည် လည်း ထပ်မံ၍ ဝသျှူ ပြုလုပ်ကြသည်။ ဝသျှူ ရှိပါလျက် ထပ်မံ၍ ဝသျှူ ပြုခြင်း၏အကျိုးနှင့်စပ်လျဉ်း၍ တမာန်တော်မြတ်၏ဩဝါဒကိုလည်းအများအပြားတွေ့ ရှိရပေသည်။ အစ္စလာမ်သာသနာသည် အတွင်းစိတ် ဓါတ်၏ သန့်ရှင်းမှု ကို လိုလားသကဲ့ သို့ အပြင်အပ ခန္ဓာကိုယ်၏ သန့်ရှင်းစင်ကြယ်မှုကိုလည်း အထူးလိုလား၏။ ထို့အတွက်ကြောင့် အစ္စလာမ်သာသနာ၏ ခဝပ်ကိုးကွယ်မှုများတွင် အချုပ်အချာအဓိကဖြစ်သော ဆွလာတ်ဝတ် ပြု မှု အလျင် ဝသျှူ ပြုခြင်းကို တာဝန် တရပ်အဖြစ်သတ်မှတ်ထားသည်။ ဝသျှူ မရှိဘဲ ဆွလာတ်ဝတ်ပြုခြင်း သည် အလျင်းမပိုင်ပေ။

ဝသျှူ တွင်ဖရ်သ္ဍ် ၄–ပါးရှိ၏။

၁။ မျက်နှာဆေးခြင်း။ ၂။ လက်များကို တတောင်ဆစ်အထိ (တတောင် ဆစ်အပါအဝင်) ဆေးခြင်း။

၃။ ဦးခေါင်းကို စိုလျက်ရှိသောလက်ဖြင့် 'မတ်စဟ်' ပွတ်သပ်ခြင်း။

၄။ ခြေထောက်များကို ခြေမျက်စေ့ အထိ (ခြေမျက်စိအပါအဝင်) ဆေးခြင်း။

အဆိုပါဖရ်သ္ဍ် ၄– ပါး ကို ဤ မုကၠပါဠ် တော်တွင် အတည့်အလင်း မိန့်ဆိုထားတော်မူသည်။ ဝသျှူ နှင့် စပ်လျဉ်း၍အခြား အသေးစိတ် အချက်အလက်များကို 'ဖစ်ကဟ် ' ဓမ္မသတ်ကျမ်း များတွင် တွေ့ ရှိနိုင်ပေသည်။

وَامۡسَحُوۡا بِرُءُوۡسِكُمۡ وَاَرۡجُلَكُمۡ اِلَى الۡـكَعۡبَيۡنِ‌ ؕ وَاِنۡ كُنۡتُمۡ جُنُبًا فَاطَّهَّرُوۡا‌ ؕ وَاِنۡ كُنۡتُمۡ مَّرۡضَىٰۤ اَوۡ عَلٰى سَفَرٍ اَوۡ جَآءَ اَحَدٌ مِّنۡكُمۡ مِّنَ الۡغَآٮِٕطِ اَوۡ لٰمَسۡتُمُ النِّسَآءَ فَلَمۡ تَجِدُوۡا مَآءً فَتَيَمَّمُوۡا صَعِيۡدًا طَيِّبًا فَامۡسَحُوۡا بِوُجُوۡهِكُمۡ وَاَيۡدِيۡكُمۡ مِّنۡهُ‌ ؕ مَا يُرِيۡدُ

သို့ရာတွင် အကယ်၍ အသင်တို့သည် 'ဂျနုဗ်' ခန္ဓာကိုယ်မသန့်သော သူများဖြစ်၍ [၁] (ရေသုံးသပ်ရန် ထိုက်နေကြပါလျှင် တကိုယ်လုံးကို) သန့်စင်အောင် ပြုကြလေကုန်။

၎င်းပြင် အကယ်၍ အသင်တို့သည် ဝေဒနာရှင်များ ဖြစ်နေကြသော်၎င်း၊ ခရီးသည်များ ဖြစ်နေကြသော်၎င်း၊ သို့တည်းမဟုတ် အသင်တို့ အနက် တစုံတယောက်သောသူသည် ကျင်ကြီး ကျင်ငယ်စွန့်ရာမှ ပြန်ခဲ့သည်ရှိသော်၎င်း၊ သို့မဟုတ် အသင်တို့သည် (မိမိတို့၏) ဇနီးမိန်းမများနှင့် မေထုန်သံဝါသ ပြုခဲ့ကြသည်ရှိသော်၎င်း၊ ပြီးနောက် အသင်တို့သည် ရေကိုမရရှိခဲ့ကြပါလျှင် စင်ကြယ် သန့်ပြန့်သော မြေကြီးဖြင့် "သယမ်မွန်မ်" *ပြုကြ*လေကုန်။ [၂] ထို(ကဲ့သို့ "သယမ်မွန်မ်" ပြုသော)အခါ အသင်တို့သည် (လက်ဝါးနှစ်ဘက်ဖြင့် မြေကြီးကို ရိုက်ပုတ်၍) မိမိတို့၏ မျက်နှာနှင့် လက်များကို ထိုမြေကြီးဖြင့်ပွတ်သပ်ကြလေကုန်။

---

(၁) ဤမုက္ကပါဠ်တော်တွင် 'ဂျာနာဗဟ်' ဖြစ်လျှင် တကိုယ်လုံး သန့်စင်အောင် ရေချိုးရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။ 'ဂျာနာဗတ်' ကြောင့် ရေချိုးခြင်းနှင့်စပ်လျဉ်း၍ အသေးစိတ် အချက်အလက်များကို ဓမ္မသတ်ကျမ်းများတွင် တွေ့ရှိနိုင်ပေသည်။

(၂) မွတ်စ်လင်မ် တဦးတယောက်သည် မမာမကျန်းဖြစ်၍ ရေကိုအသုံးမပြုနိုင်သည့် အခါမျိုးတွင်၎င်း၊ ခရီးသွားခိုက် ရေမရှိသည့်အခါ သို့မဟုတ် ရေကိုအသုံးမပြုနိုင်သည့် အခါမျိုးတွင်၎င်း၊ ရေချိုးရန်တာဝန်ရှိ၍ ရေချိုးရန် ရေမရရှိသောအခါ၊ သို့မဟုတ် ရေကိုအသုံးမပြုနိုင်သည့် အခါမျိုးတွင်၎င်း ဖော်ပြပါ အချိန်အခါမျိုးတွင် သန့်ပြန့်သောမြေဖြင့် 'တယမ်မွန်မ်' ပြုလုပ်ရပေမည်။

'တယမ်မွန်မ်' ဟူသည် သန့်ပြန့်သောမြေကို လက်ဝါး နှစ်ဘက်ဖြင့် နှစ်ကြိမ်ရိုက်ပုတ်၍ ပဌမအကြိမ် မျက်နှာကိုပွတ်သပ်ခြင်း၊ ဒုတိယအကြိမ်လက်ကိုတံထောင်ဆစ်အထိ ပွတ်သပ်ခြင်းကိုဆိုသည်။ကြည့်-"ဟိဒါယဟ်"။

'တယမ်မွန်မ်' စပ်လျဉ်း၍ အသေးစိတ်အချက်အလက်များကို 'ဖစ်က်ဟ်' ဓမ္မသတ်ကျမ်းများတွင် တွေ့ရှိနိုင်ပေသည်။

ဤမုက္ကပါဠ်တော်နှင့် အလားတူမုက္ကပါဠ်တော်တပါးသည် ကုရ်အာန်(၄း၄၃)တွင်လာရှိ၏။

اللَّهُ لِيَجْعَلَ عَلَيْكُم مِّنْ
حَرَجٍ وَلَٰكِن يُرِيدُ
لِيُطَهِّرَكُمْ وَلِيُتِمَّ
نِعْمَتَهُ عَلَيْكُمْ لَعَلَّكُمْ
تَشْكُرُونَ ⑥

အလ္လာဟ် အရှင်မြတ်သည် အသင်တို့. အပေါ်၌ ကျဉ်းကြပ်မှုကို ပြုလုပ်ရန် ရည်ရွယ်တော်မူသည်မဟုတ်။ [၁] သို့ရာတွင် ထိုအရှင်မြတ်သည် အသင်တို့အား သန့်ရှင်းစင်ကြယ်အောင် ပြုလုပ်ရန်နှင့် [၂] *မိမိကျေးဇူးတော်ကို အသင်တို့အဘို့ အပြည့်အစုံ ပေးသနားတော်မူရန်သာ* [၃] ရည်စူးတော်မူလေသည်။ သို့မှသာလျှင် အသင်တို့သည် ကျေးဇူးတော်ကိုသိတတ်သူများ ဖြစ်တန်ကြရာလေသတည်း။

**ဆက်စပ်မှု။**

(က) ဤကဏ္ဍအစတွင် ပဋိညာဉ်များကို အတည်ပြုရမည့်အကြောင်း ပါရှိ၏။ ပဋိညာဉ်သည် နှစ်မျိုးနှစ်စားရှိ၏။ (၁) အဟ်ဒုရဗူဗိယတ်၊ ပြုစုပျိုးထောင်ခြင်းနှင့် စပ်လျဉ်းသော ပဋိညာဉ်။ (၂) အဟ်ဒုအဗူဒီယတ်၊ ခဝပ်ကိုးကွယ်ခြင်းနှင့် စပ်လျဉ်းသော ပဋိညာဉ်။ ပဌမ ပဋိညာဉ်သည် အလ္လာဟ်အရှင်မြတ်နှင့်သက်ဆိုင်၏။ ဒုတိယပဋိညာဉ်သည် လူသားတို့နှင့် သက်ဆိုင်၏။

လောကီရေးဆိုင်ရာ အကျိုးအမြတ်အရပ်ရပ်တို့သည် စားသောက်မှု၊ ထိမ်းမြားမှုနှင့် ဆက်စပ်လျက်ရှိ၏။ ထို့အတွက် အလ္လာဟ်အရှင်မြတ်သည် စားသုံးမှု၊ ထိမ်းမြားမှုများနှင့်စပ်လျဉ်း၍ အထက်တွင် အကျယ်မိန့်ဆိုထားတော်မူသည်။

လူသားတို့၏ ပဋိညာဉ်ကား ခဝပ်ကိုးကွယ်ခြင်းဖြစ်၏၊ အီမာန်ယုံကြည်ကြပြီးနောက် အကြီးဆုံးသော ခဝပ်မှုကား ဆွလာတ်ဝတ်ပြုခြင်းပင် ဖြစ်၏။ ဆွလာတ်ဝတ်ပြုမှုသည် မသန့်ရှင်း မစင်ကြယ်ဘဲ မဖြစ်နိုင်၊ သို့အတွက်ကြောင့် ဤမုက္ခပါဌ်တော်တွင် ဝူဇူပြုခြင်း၊ ရေချိုးခြင်း၊ တယမ်မွန်မ်ပြုခြင်း၏ စည်းကမ်းချက်များကို မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

"ဂျနာဗဟ်" ရေချိုးရခြင်းသည် ထိမ်းမြားခြင်းကြောင့် ဖြစ်ရ၏။ ဝူဇူပျက်ရခြင်းသည် စားသောက်မှုကြောင့် ဖြစ်ရ၏။ ဤသည်ကိုဆင်ခြင်ပါက ဤမုက္ခပါဌ်တော်နှင့် ပြီးစီးခဲ့သော မုက္ခပါဌ်တော်များသည် တပါးနှင့်တပါး ဆက်စပ်လျက်ရှိသည်ကို သိရှိနိုင်ပေသည်။ (အလ်မနာရ်)။

(ခ) အထက်တွင်လောကီရေးဖြစ်သော စားသောက်မှု၊ ထိမ်းမြားမှုများနှင့်သက်ဆိုင်သော စည်းကမ်းချက်များကို ဟောကြားထားတော်မူ၏။ ဤမုက္ခပါဌ်တော်တွင် လောကုတ္တရာရေးဆိုင်ရာ ဆွလာတ်ဝတ်ပြုမှုနှင့် သက်ဆိုင်သော စည်းကမ်းချက်များကို ဟောကြားထားတော်မူသည်။ (ထာနဝီ)

⓵ အလ္လာဟ်အရှင်မြတ်သည် လူသားတို့ လိုက်နာကျင့်သုံးနိုင်ရန်အတွက် တရားစည်းကမ်းချက်များကို သတ်မှတ်ပြဋ္ဌာန်းတော်မူရာတွင် ခက်ခဲမှု၊ ကျပ်တည်းခဲယဉ်းမှုကို အလျင်း လိုလားတော်မမူချေ။ လွယ်ကူမှု၊ သက်သာချောင်ချိမှုကိုသာ လိုလားတော်မူပေသည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၂:၂၁၅။ ၂၂:၇၈) တွင်လည်း မိန့်ဆိုထားတော်မူသည်။ အစ္စလာမ်သာသနာ၏ စည်းကမ်းချက်များကို လက်တွေ့လိုက်နာကျင့်သုံးပါက လူ့သက်တမ်း တလျှောက်လုံးတွင် တွေ့ကြုံရသော အခက်အခဲများကို လွယ်ကူစွာဖြင့် ကျော်လွှန်နိုင်ပေသည်။ (မာဂျိဒီ)။

وَاذْكُرُوا نِعْمَةَ اللَّهِ عَلَيْكُمْ وَمِيثَاقَهُ الَّذِي وَاثَقَكُم بِهِ إِذْ قُلْتُمْ سَمِعْنَا وَأَطَعْنَا ۖ وَاتَّقُوا اللَّهَ ۚ إِنَّ اللَّهَ عَلِيمٌ بِذَاتِ الصُّدُورِ ⑦

၇။ တဖန် အသင်တို့သည် မိမိတို့ အပေါ်၌ အလ္လာဟ် အရှင်မြတ်က ပြုတော်မူသော ကျေးဇူးတော်ကိုငင်း၊ အသင်တို့က "ကျွန်တော်မျိုးတို့သည် (အမိန့်တော် များကို) နာခံကြပါပြီ၊ ထို့ပြင် ကျွန်တော်မျိုးတို့သည်(ယင်းအမိန့်တော်များအတိုင်း) လိုက်နာကြပါပြီ" ဟု ပြောဆိုကြသော အချိန်တွင် ထိုအရှင်မြတ်သည် အသင်တို့နှင့် မြဲမြဲခိုင်ခံ့စွာ ဖွဲ့တော်မူသော ထိုအရှင်မြတ်၏ *ပဋိညာဉ်တော်ကိုငင်း၊* ၁ ပြန်လည်အောက်မေ့ သတိရကြလေကုန်။ ၎င်းပြင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား (အမြဲတစေ) ကြောက်ရွံ့ကြလေကုန်။

ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် (လူတို့၏) စိတ်နှလုံးများ တွင်ရှိသည်တို့ကို အကြွင်းမဲ့ သိရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

---

(၂) အလ္လာဟ်အရှင်မြတ်သည် သန့်ရှင်းမှုကို လိုလားတော်မူသည်ဟု မိန့်ဆိုရာတွင် ခန္ဓာကိုယ်၏ သန့်ရှင်းမှု၊ စိတ်နှလုံး၏သန့်ရှင်းမှု ၂-ရပ်လုံး အကျုံးဝင်ပေသည်။ ထို့အတွက်ကြောင့်လည်း ကိုယ်ခန္ဓာ၏သန့်ရှင်းမှုနှင့် စပ်လျဉ်းသော စည်းကမ်းချက်များကိုငင်း၊ စိတ်နှလုံး၏ သန့်ရှင်းမှုနှင့်စပ်လျဉ်းသော စည်းကမ်းချက်များကိုငင်း ဟောကြားထားတော်မူခြင်း ဖြစ်သည်။ မာဂျိဒီ။

(၃) အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ကို အပြည့်အစုံ ပေးသနားတော်မူလို၏။ ယင်းသို့ လိုလားတော်မူသည့်အတိုင်း မိမိ၏ထံတော်ပါးသို့ ချဉ်းကပ်နိုင်စေရန်နှင့် မိမိ၏ နှစ်သက်လိုလားမှုကို ရရှိခံစားနိုင်စေရန်အတွက် အလွယ်ကူဆုံး၊ အပြည့်ဝဆုံးသော နည်းနာနိသျှများကို (ဝါ) အစ္စလာမ်သာသနာတော်၏ 'ရှရီအတ်' တရားဓမ္မသတ်များကို ဟောကြားထားတော်မူသည်။ ကြည့်- ဂျာလာလိုင်န်၊ မာဂျိဒီ။

(၁) ဤမုကဒ္ဒပါဠ်တော်တွင် ပါရှိသည့် "ပဋိညာဉ်" ဟူသည်ကား အဘယ်ပဋိညာဉ်ကိုဆိုလိုသနည်း။ ဤတွင် 'မုဖတ်စ်စိရိန်' ပညာရှင်များသည် အဆိုပြားလျက်ရှိကြ၏။

(က) 'အာလမိအရဝါဟ်' ခေါ် ဝိညာဉ်လောကတွင် အလ္လာဟ်အရှင်မြတ်က ဝိညာဉ်အပေါင်းတို့အား၊ လူသားအားလုံးတို့အား "ငါသည် အသင်တို့၏ အရှင်မဟုတ်ပါသလော" ဟုမေးတော်မူရာ ဝိညာဉ်အပေါင်းတို့က၊ လူသားအပေါင်းတို့က "ဟုတ်ပါ၏" ဟု ဖြေဆို ဝန်ခံခဲ့ကြလေ၏။ ဤမုကဒ္ဒပါဠ်တော်တွင် ပါရှိသည့် ပဋိညာဉ်ဟူသည် အဆိုပါပဋိညာဉ်ကိုပင် ဆိုလိုသည်ဟု အချို့ပညာရှင်များက ဆိုလိုကြသည်။ ကြည့်-ကဗီရ်။ ➤➤

يَا أَيُّهَا الَّذِينَ آمَنُوا كُونُوا قَوَّامِينَ لِلَّهِ شُهَدَاءَ بِالْقِسْطِ ۖ وَلَا يَجْرِمَنَّكُمْ شَنَآنُ قَوْمٍ عَلَىٰ أَلَّا تَعْدِلُوا ۚ اعْدِلُوا ۚ

၈။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် အလ္လာဟ် အရှင်မြတ်(၏နှစ်သက်မှုရယူရန်)အလို့ငှာ ဖြောင့်မတ်တည်ကြည်သောသူများ၊ (သက်သေခံရာတွင်) *တရားမျှတစွာ သက်သေခံသူများ ဖြစ်ကြလေကုန်။* [၁] ၎င်းပြင် မည်သည့် လူမျိုးတမျိုးကိုမဆို မုန်းတီးခြင်းသည် အသင်တို့အား တရားမျှတမှုကို မပြုဘဲနေကြရန် လှုံ့ဆော်သည်မရှိစေရ။ [၂]

---

>> (ခ) ပဋိညာဉ်ဟူသည် အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်သည့်အချိန်တွင် အစ္စလာမ်သာသနာရေးဆိုင်ရာ အမိန့်ပညတ်အရပ်ရပ်ကို လိုက်နာကျင့်သုံးပါမည်ဟု 'မုအ်မင်န်' တိုင်းဝန်ခံသော ပဋိညာဉ်ဝန်ခံချက်ကို ဆိုလိုသည်ဟု အချို့ပညာရှင်များက ဆိုကြ၏။ ကြည့် - ဗဟ်ရ်။

(ဂ) ဟိဂျ်ရီသက္ကရာဇ် (၆) ခုနှစ်တွင် သစ်ပင်တပင်အောက်၌ ဆွာဟာဗဟ်သာဝကကြီးများက တမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတွင် 'ဗိုင်အတ်' ပြု၍ အကျွန်ုပ်တို့သည် အမိန့်ပညတ် အရပ်ရပ်ကို မိမိတို့ ကြိုက်သည်ဖြစ်စေ၊ မကြိုက်သည်ဖြစ်စေ၊ လိုက်နာ ကျင့်သုံးကြပါမည်ဟု ပဋိညာဉ်ပေးခဲ့ကြ၏။ ဤပဋိညာဉ်ကို 'ဗိုင်အတုရ်ရစ်ဃွဝါန်' ဟူ၍ ခေါ်ဝေါ်ကြသည်။ ဤမုကဒ္ဒပါဠ်တော်တွင် ပါရှိသော ပဋိညာဉ်ဟူသည် အဆိုပါ ပဋိညာဉ်ကိုပင် ဆိုလိုသည်။ ဤကားများစွာသော မုဖတ်စ်ရီန် ပညာရှင်များတို့၏ ယူဆချက်တည်း။ ကြည့် (ကုရ်တုဗီ)။

① အလ္လာဟ်အရှင်မြတ် သတ်မှတ်ပြဋ္ဌာန်းထားတော်မူသော အမိန့်ပညတ်တာဝန် အရပ်ရပ်ကို ကျေပွန်စွာ လိုက်နာကျင့်သုံးကြရပေမည်။ ထို့အတူ အလ္လာဟ်အရှင်မြတ် ပြုပြင် စီရင်ဖန်ဆင်းထားတော်မူသော သက်ရှိ၊ သက်မဲ့ အားလုံးတို့နှင့် သက်ဆိုင်သည့် တာဝန်အရပ်ရပ်ကိုလည်း ကျေပွန်ကြရပေမည်။ ဤမုကဒ္ဒပါဠ်တော်တွင် ( قَوَّامِينَ لِلَّهِ ) ဟူသော ဝါကျသည် ( حقوق الله ) ဟု 'ဟူကုလ္လာဟ်' အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ ထမ်းဆောင်ရမည် ဖြစ်သော တာဝန်အရပ်ရပ်ကို ရည်ညွှန်းသည်။ ( شُهَدَاءَ بِالْقِسْطِ ) ဟူသောဝါကျသည် ( حقوق العباد ) 'ဟုကူကုလ်အိဗါဒ်' အလ္လာဟ်အရှင်မြတ်၏ ကျွန်အပေါင်းတို့နှင့် သက်ဆိုင်သည့် တာဝန်အရပ်ရပ်ကို ရည်ညွှန်းသည်။

② ဤမုကဒ္ဒပါဠ်တော်ကို ထောက်ရှုခြင်းအားဖြင့် ကာဖိရ်တို့အား ကာဖိရ်ဖြစ်ကြလင့်ကစား မုန်းတီးသည့် အတွက် မတရား မပြုကြရမည့်အကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။ ကာဖိရ်များနှင့်ပင်လျှင် တရားမျှတစွာ ဆက်ဆံကြရမည်ဖြစ်ပေရာ မွတ်စ်လင်မ်အချင်းချင်း ဆက်ဆံရာတွင် တရားမျှတမှု ပိုမိုအရေးကြီးသည်မှာ ထင်ရှားလှပေသည်။ ကြည့် - ကဗီရ်၊ ကုရ်တုဗီ။

မတရားပြုမှုခြင်း၏ အကြောင်းတရားများသည် များသောအားဖြင့် ၂-ခုတွေ့ရှိရ၏။ >>

هُوَ اَقْرَبُ لِلتَّقْوٰى ۡ وَاتَّقُوا اللّٰهَ ؕ اِنَّ اللّٰهَ خَبِيْرٌۢ بِمَا تَعْمَلُوْنَ ⑧

အသင်တို့သည် (မည်သည့် ကိစ္စမျိုး၌မဆို) *တရားမျှတ ကြလေကုန်*။ [၁] ယင်း တရားမျှတမှုသည် ကား *ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်ခြင်းနှင့်* [၂] အနီးစပ်ဆုံးပင်တည်း။ ထိုမှတပါး အသင်တို့သည် အလ္လာဟ် အရှင်မြတ်ကို ကြောက်ရွံ့ကြလေကုန်။ မလွဲဧကန် အလ္လာဟ် အရှင်မြတ်သည် အသင်တို့ ပြုမူသမျှတို့ကို အကြွင်းမဲ့ ကြားသိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူချေသတည်း။

وَعَدَ اللّٰهُ الَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ ۙ لَهُمْ مَّغْفِرَةٌ وَّاَجْرٌ عَظِيْمٌ ⑨

၉။ အလ္လာဟ်အရှင်မြတ်သည် အီမာန် ယုံကြည်ခြင်းသဒ္ဓါတရား ထားရှိ၍ ကောင်းမြတ်သောအကျင့်သီလများကို ဆောက်တည်ကြကုန်သော သူတို့အား၊ "၎င်းတို့အတွက် လွတ်ငြိမ်းချမ်းသာခွင့်နှင့် ကြီးကျယ်လှစွာသောအကျိုး ဆုလပ်သည်ရှိပေသည်" ဟူ၍ ဝန်ခံကတိ ထားရှိတော်မူခဲ့ချေပြီ။

وَالَّذِيْنَ كَفَرُوْا وَكَذَّبُوْا بِاٰيٰتِنَاۤ اُولٰٓئِكَ اَصْحٰبُ الْجَحِيْمِ ⑩

၁၀။ သို့ရာတွင် သွေဖည်ငြင်းပယ်သည့်ပြင် ငါ အရှင်မြတ်၏ တန်ခိုးပြာဋိဟာ သက်သေသာဓကလက္ခဏာများကို မဟုတ်မမှန်ဟု စွပ်စွဲငြင်းဆိုသော သူတို့မူကား ငရဲဘုံသားများပင်ဖြစ်ကြကုန်သတည်း။

---

➤➤ (၁) တဘက်သားအား ထောက်ထားညှာတာမှု၊ (၂) တဘက်သားအား မုန်းတီးမှု၊ ပဌမအကြောင်း ကုရ်အာန်ကျမ်းမြတ် (၄း၁၃၅)တွင် မိန့်ဆိုထားတော်မူ၏။ ဒုတိယအကြောင်းကို ဤမုက္ခပါဌ်တော်တွင် မိန့်ဆိုထားတော်မူပေသည်။ ကြည့် - ထာနဝီ။

① 'အဒ်လ်' ဟူသည် သူတပါးအား အလွန်အယုတ် မဖြစ်စေဘဲပြုသင့် ပြုအပ်ပြုထိုက်သည့်အတိုင်း တရားမျှတစွာ ပြုမူဆက်ဆံခြင်းကိုဆိုသည်။ တရားမျှတမှုသည် ချိန်ခွင့်လျှာကဲ့သို့ တည့်မတ်စွာ ရှိရပေမည်။ တဘက်သားအား မုန်းထားမှုကြောင့် ဖြစ်စေ၊ ချစ်ခင်မှုကြောင့် ဖြစ်စေ တဘက်ဘက်သို့ တိမ်းစောင်း၍ မသွားစေရ။

② 'တာက္ကဝါ' တည်းဟူသော တရားကို ဆည်းပူးရာတွင် တရားမျှတမှုသည် အရေးပါ အရာရောက်ဆုံးနှင့် အနီးစပ်ဆုံးသော အကြောင်းတရားတခု ဖြစ်ပေသည်။

يٰٓاَيُّهَا الَّذِيْنَ اٰمَنُوا اذْكُرُوْا نِعْمَتَ اللّٰهِ عَلَيْكُمْ اِذْ هَمَّ قَوْمٌ اَنْ يَّبْسُطُوْٓا اِلَيْكُمْ اَيْدِيَهُمْ فَكَفَّ اَيْدِيَهُمْ عَنْكُمْ ۚ وَاتَّقُوا اللّٰهَ ۗ وَعَلَى اللّٰهِ فَلْيَتَوَكَّلِ الْمُؤْمِنُوْنَ ﴿١١﴾

**၁၁။** အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် မိမိတို့အပေါ်၌(ရှိသော) အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကို အောက်မေ့သတိရရှိကြလေကုန်။ တရံရောအခါ လူမျိုး တမျိုးသည် မိမိတို့၏လက်များကို အသင်တို့ဘက်သို့ လှမ်း(၍ အသင်တို့ကို သတ်ဖြတ်)ကြရန် *ကြံရွယ်ခဲ့ကြ*လေသည်။ [၁] ထိုအခါ ထိုအရှင်မြတ်သည် ၎င်းတို့၏ လက်များကို အသင်တို့(အား သတ်ဖြတ်ခြင်း)မှ တားဆီးတော်မူခဲ့လေသည်။ ၎င်းပြင် အသင်တို့သည် အလ္လာဟ် အရှင်မြတ်ကို ကြောက်ရွံ့ကြလေကုန်။ အမှန်သော်ကား 'မုအ်မင်န်' သက်ဝင်ယုံကြည်သော သူတို့သည် အလ္လာဟ်အရှင်မြတ် အပေါ်၌သာလျှင် ယုံကြည်စိတ်ချ အားထားကြရပေမည်။

وَلَقَدْ اَخَذَ اللّٰهُ مِيْثَاقَ بَنِيْٓ اِسْرَاۤءِيْلَ ۚ وَبَعَثْنَا مِنْهُمُ اثْنَيْ عَشَرَ نَقِيْبًا ۗ وَقَالَ اللّٰهُ اِنِّيْ مَعَكُمْ ۗ لَىِٕنْ اَقَمْتُمُ الصَّلٰوةَ وَاٰتَيْتُمُ

**၁၂။** ၎င်းနောက်မှ မုချဧကန် အလ္လာဟ်အရှင်မြတ်သည် (မိမိ အမိန့်တော်များကို လိုက်နာရန်) အစ္စရာအီလီ လူမျိုးတို့ထံမှ(လည်း) ပဋိညာဉ်ဝန်ခံချက်ကိုယူတော်မူခဲ့လေသည်။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုသူတို့အနက်မှ ဦးစီးနာယက အကြီးအကဲ ဆယ့်နှစ်ဦး ခန့်အပ်တော်မူခဲ့လေသည်။ ထိုနောက် အလ္လာဟ်အရှင်မြတ်သည် မိန့်ကြားတော်မူခဲ့လေသည်။ ဧကန်စင်စစ် ငါအရှင်မြတ်(၏ ကူညီ ယိုင်းပင်းမှု) သည် အသင်တို့နှင့်အတူရှိအံ့။

---

(၁) မွတ်စ်လင်မ်တို့အား သတ်ဖြတ်ရန် ကြံရွယ်သူတို့သည် မွတ်စ်လင်မ်တို့၏ ရန်သူများပင်ဖြစ်သည်မှာ ထင်ရှားပေသည်။ ထိုရန်သူများသည် မည်သူမည်ဝါများနည်း။

အစ္စလာမ်သာသနာ၏ ပဌမပိုင်းတွင် ကုရိုက်မျိုးနွယ်ဝင် မုရှိရစ်ကံများသည် မွတ်စ်လင်မ်တို့အား အများဆုံး ရန်ပြုခဲ့ကြသည်။ ထို့အတွက်ကြောင့် အချို့မုဖတ်စ်စီရီန်များက မွတ်စ်လင်မ်တို့အား သတ်ဖြတ်ရန် ကြံရွယ်သူများဟူသည် အဆိုပါ ကုရိုက်ရှ်မျိုးနွယ်ဝင် မုရှိရစ်ကံများကိုပင် ဆိုလိုသည်ဟုယူဆကြသည်။

ကြည့် - ကဗီရ်၊ မာဂျိဒီ။ ➢➢

الزَّكٰوةَ وَاٰمَنْتُمْ بِرُسُلِيْ وَعَزَّرْتُمُوْهُمْ وَاَقْرَضْتُمُ اللّٰهَ قَرْضًا حَسَنًا لَّاُكَفِّرَنَّ عَنْكُمْ سَيِّاٰتِكُمْ وَلَاُدْخِلَنَّكُمْ جَنّٰتٍ تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ ۚ فَمَنْ كَفَرَ بَعْدَ ذٰلِكَ مِنْكُمْ فَقَدْ ضَلَّ سَوَآءَ السَّبِيْلِ ⑫

အကယ်၍သာ အသင်တို့သည် 'ဆွလာတ်' ဝတ်ပြုမှုကိုလည်း အမြဲ ဆောက်တည်ကြကုန်အံ့။ ၎င်းပြင် အသင်တို့သည် 'ဇကာတ်' တရားဝင် ဒါန ကြေးကိုလည်း ပေးဆောင်ကြကုန်အံ့။ ၎င်းပြင် အသင်တို့သည် ငါအရှင်မြတ်၏ ရစူလ်တမန်တော် တို့အားလည်း သက်ဝင်ယုံကြည်၍ ထိုရစူလ် တမန် တော် များအား ယိုင်းပင်းကူညီကြကုန်အံ့။

၎င်းပြင် အသင်တို့သည် အလ္လာဟ်အရှင် မြတ်အား မွန်မြတ်လှစွာသော ကြွေးမြီချေးငှားခြင်း ကိုလည်းပြုကြအံ့၊ ယင်းသို့ဖြစ်လျှင် ငါအရှင်မြတ် သည် အသင်တို့၏ ပြစ်မှုဒုစရိုက်များကို မုချ ပပျောက်စေတော်မူအံ့၊ ၎င်းပြင် အသင်တို့အား အကြင် ဥယျာဉ်များ၌လည်း မုချ ဝင်ရောက်စေတော်မူအံ့၊ ထိုဥယျာဉ်များအောက်၌ ရေချောင်းများသည် စီးဆင်း လျက် ရှိကြလတ္တံ့။

သို့ရာတွင်မူကား အသင်တို့အနက်မှ မည်သူ မဆို ယင်း(ကဲ့သို့ ပဋိညာဉ်ထားရှိပြီး)နောက် သွေဖည် ငြင်းပယ်ခဲ့ပါမူ၊ ထိုသူသည် ဖြောင့်မှန်သော (တရား) လမ်းမှ မုချ ဝေးကွာသွားခဲ့ချေပြီ။

---

➤➤ အစ္စလာမ်သာသနာ၏ ဒုတိယပိုင်းတွင် မွတ်စ်လင်မ်တို့အား အရဗ်ယဟူဒီများသည် အများဆုံး ရန်ပြုခဲ့ကြ၏။ ထို့အတွက်ကြောင့်ပင် အချို့ မုဖတ်စ်စိရိန်များက မွတ်စ်လင်မ်တို့အား သတ်ဖြတ်ရန် ကြံရွယ် သူများသည် ယဟူဒီများပင်ဖြစ်ကြသည်ဟု ယူဆကြသည်။ ကြည့် - မာဂျိဒီ။

ဤမုက္ခပါဌ်တော်တွင် ထုတ်ပြန်ပို့ချတော်မူခြင်းနှင့် စပ်လျဉ်း၍ အီဗ်နုဂျရီရ်ကျမ်းတွင် အကြောင်း အတ္တုပ္ပတ္တိ အများအပြားတွေ့ရှိရ၏။ ထိုအကြောင်း အတ္တုပ္ပတ္တိအားလုံးတို့သည် တခုနှင့် တခု ကွဲပြားသော်လည်း ဤမုက္ခပါဌ်တော်နှင့်ကား သက်ဆိုင်လျက်ပင် ရှိပေသည်။ (မာဂျိဒီ။)

فَبِمَا نَقْضِهِم مِّيثَاقَهُمْ
لَعَنَّاهُمْ وَجَعَلْنَا قُلُوبَهُمْ
قَاسِيَةً ۖ يُحَرِّفُونَ
الْكَلِمَ عَن مَّوَاضِعِهِ ۙ
وَنَسُوا حَظًّا مِّمَّا ذُكِّرُوا بِهِ ۚ
وَلَا تَزَالُ تَطَّلِعُ عَلَىٰ
خَائِنَةٍ مِّنْهُمْ إِلَّا
قَلِيلًا مِّنْهُمْ ۖ
فَاعْفُ عَنْهُمْ وَاصْفَحْ ۚ
إِنَّ اللَّهَ يُحِبُّ الْمُحْسِنِينَ ﴿١٣﴾

၁၃။ ထိုနောက် ၎င်း(အစ္စရာအီလီမျိုးနွယ်)တို့သည် မိမိတို့၏ပဋိညာဉ်ကို ဖောက်ဖျက်ခြင်းကြောင့် ငါ အရှင်မြတ်သည် ၎င်းတို့အား (မိမိ၏) ကရုဏာ တော်မှ ကင်းဝေးစေတော်မူခဲ့၏။ ထိုပြင်၎င်းတို့၏ စိတ်နှလုံးများ ကိုလည်း ခက်ထန်မာကျောအောင် ပြုလုပ်တော်မူခဲ့၏။ ထိုသူတို့သည် မုက္ခပါဌ်တော်များ ကို ၎င်းတို့၏ မူရင်းနေရာမှများမှ ရွေ့ပြောင်းကြ သည်။ ၎င်းပြင် ထိုသူတို့သည် မိမိတို့အား ဆုံးမထား သော အဆုံးအမ ဩဝါဒများအနက်မှ (ကြီးကျယ် သော) အစိတ်အပိုင်း တခုကိုလည်း မေ့ပစ်ခဲ့ကြလေ သည်။ အမှန်သော်ကား အသင်သည် ၎င်းတို့အနက်မှ တချို့သောသူတို့မှတပါး ကျန်လူများ၏သစ္စာဖောက် မှုတခုခုကို အမြဲပင် ကြားသိလျက် ရှိနေပေမည်။ သို့ရာတွင် အသင်သည် *၎င်းတို့အား ခွင့်လွှတ်ပါလေ၊ ထို့ပြင် (၎င်းတို့ဘက်မှ) မျက်နှာလွှဲရှောင်ပါလေ၊*[၁] ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် ကောင်းမှု ပြုသောသူတို့အား ချစ်မြတ်နိုးတော်မူလေသတည်း။

وَمِنَ الَّذِينَ قَالُوا إِنَّا
نَصَارَىٰ أَخَذْنَا مِيثَاقَهُمْ
فَنَسُوا حَظًّا مِّمَّا ذُكِّرُوا
بِهِ فَأَغْرَيْنَا بَيْنَهُمُ
الْعَدَاوَةَ وَالْبَغْضَاءَ إِلَىٰ

၁၄။ ထိုနည်းတူစွာ ငါအရှင်မြတ်သည် (မိမိတို့ ကိုယ်ကို) "အကျွန်ုပ်တို့သည် နဆွာရာ ခရစ်ယာန် များဖြစ်ကြသည်" ဟု ပြောဆိုကြကုန်သော သူတို့ ထံမှလည်း (ငါအရှင်မြတ်၏ အမိန့်တော်များကို လိုက်နာကြရန်) ပဋိညာဉ်ဝန်ခံချက်ကို ယူတော်မူခဲ့ လေသည်။ သို့ပါလျက် ယင်းသူတို့သည် ဆိုဆုံးမခဲ့ ပြီးဖြစ်သော ဆုံးမဩဝါဒတို့အနက်မှ (အကြီး အကျယ်) အစိတ်အပိုင်းကို မေ့လျော့ပစ်ခဲ့ကြကုန်၏။

(၁) "ရှရီအတ်" ဓမ္မသတ် ဥပဒေအရ အရေးယူရန်အကြောင်းတစုံတရာမရှိပါက အပြစ်ကြီးငယ် ကျူးလွန် မိသောသူများကိုပင် အရေးမယူရပေ၊ အရှက်တကွဲ အကျိုးနဲမပြုပေ၊ ခွင့်လွှတ်ရပေမည်။ ကြည့် – မာဂျိဒီ။

يَوْمِ الْقِيَامَةِ ۚ وَسَوْفَ
يُنَبِّئُهُمُ اللَّهُ بِمَا
كَانُوا يَصْنَعُونَ ﴿١٤﴾

သို့ဖြစ်ပေရာ ငါ အရှင်မြတ်သည် ၎င်းတို့တွင် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တိုင်အောင် ရန်ငြိုးထားမှုနှင့် မုန်းတီးမှုတို့ကို ထည့်သွင်းပေးတော်မူခဲ့လေသည်။ ၎င်းပြင် အလ္လာဟ် အရှင်မြတ်သည် ထိုသူတို့အား ၎င်းတို့ ပြုလုပ်လေ့ရှိခဲ့ကြသော အရာများကို မကြာမြင့်မီ သိမြင်စေတော်မူအံ့။

يَا أَهْلَ الْكِتَابِ قَدْ
جَاءَكُمْ رَسُولُنَا يُبَيِّنُ
لَكُمْ كَثِيرًا مِّمَّا كُنتُمْ
تُخْفُونَ مِنَ الْكِتَابِ
وَيَعْفُو عَن كَثِيرٍ ۚ
قَدْ جَاءَكُم مِّنَ اللَّهِ
نُورٌ وَكِتَابٌ
مُّبِينٌ ﴿١٥﴾

**၁၅။** အို-'ကိတာဗီ' ရှေးအထက်ကျမ်းဂန် ရရှိသူအပေါင်းတို့၊ ငါအရှင်မြတ်၏ ရစူလ်တမန်တော် (မုဟမ္မဒ်)သည် အသင်တို့ထံသို့ မုချဧကန် ရောက်ရှိလာခဲ့ချေပြီ၊ ထိုရစူလ်တမန်တော်သည် (တောင်ရာတ်နှင့်အင်န်ဂျီလ်)ကျမ်းထဲမှ အသင်တို့ထိန်ချန် လျှို့ဝှက်ဖုံးအုပ်ထားခဲ့သော အရာများအနက် များစွာသော အရာတို့ကို အသင်တို့အား ရှင်းလင်းထင်ရှားစွာ *ဖော်ပြလေသည်။* [၁] ၎င်းပြင် များစွာသောအချက်တို့ကိုမူ *အပြစ်မယူဘဲ* ခွင့်လွှတ်လေသည်။ [၂]

အသင်တို့ထံသို့ အလ္လာဟ်အရှင်မြတ်အထံတော်မှ (ထွန်းလင်းတောက်ပသော) ရောင်ခြည်တော် (ဝါ)နဗီတမန်တော်(မုဟမ္မဒ်)နှင့်တကွ ထင်ရှားလှစွာသော (ကုရ်အာန်)ကျမ်းတော်မြတ်သည် စင်စစ်ဧကန် ရောက်ရှိလာခဲ့ချေပြီ။ [၃] (တနည်း) အသင်တို့ထံသို့ အလ္လာဟ် အရှင်မြတ် အထံတော်မှ ရောင်ခြည် တော်တည်းဟူသော ထင်ရှားသော(ကုရ်အာန်) ကျမ်းတော်မြတ်သည် စင်စစ်ဧကန် ရောက်ရှိလာခဲ့ချေပြီ။

---

(၁) ကိတာဗီများကို ထိန်ချန်ထားသော ကျမ်းဂန်လာ ဒေသနာတော်များကို တမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) သည် အလ္လာဟ်အရှင်မြတ်၏ 'ဝဟီ' ဖြင့် ထုတ်ဖော်ပြောကြားနိုင်တော်မူခဲ့၏။ ဤသည် တမန်တော်မြတ်၏ တမန်တော်ဖြစ်ခြင်း၏ သာဓကတရပ်ပင်တည်း။ ကြည့် - မာဂျိဒီ။

يَّهْدِيْ بِهِ اللّٰهُ مَنِ
اتَّبَعَ رِضْوَانَهٗ سُبُلَ
السَّلٰمِ وَيُخْرِجُهُمْ مِّنَ
الظُّلُمٰتِ إِلَى النُّوْرِ
بِإِذْنِهٖ وَيَهْدِيْهِمْ إِلٰى
صِرَاطٍ مُّسْتَقِيْمٍ ﴿١٦﴾

لَقَدْ كَفَرَ الَّذِيْنَ قَالُوْٓا
إِنَّ اللّٰهَ هُوَ الْمَسِيْحُ ابْنُ
مَرْيَمَ ؕ قُلْ فَمَنْ يَّمْلِكُ
مِنَ اللّٰهِ شَيْـًٔا إِنْ أَرَادَ
أَنْ يُّهْلِكَ الْمَسِيْحَ
ابْنَ مَرْيَمَ وَأُمَّهٗ وَمَنْ
فِي الْأَرْضِ جَمِيْعًا ؕ وَلِلّٰهِ

၁၆။ အလ္လာဟ် အရှင်မြတ်သည် ထို(ကုရ်အာန်) ကျမ်းတော်မြတ်ဖြင့် မိမိ၏နှစ်သက်မှုကို လိုက်နာသောသူတို့အား ငြိမ်းချမ်းသာယာခြင်း၏ လမ်းများကို ပြသတော်မူ၏။ ၎င်းပြင် ယင်းသူတို့အား မိမိအမိန့်တော်နှင့်(ဝါ)မိမိ သတ်မှတ်ပြဋ္ဌာန်းထားတော်မူသော ဥပဒေစည်းမျဉ်းအတိုင်း "ကုဖ်ရ်" တည်းဟူသော အမှောင်ထုကြီးအတွင်းမှ (အစ္စလာမ်တည်းဟူသော) အလင်းရောင်သို့ ထုတ်ယူပို့ဆောင်တော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည် ထိုသူတို့အား ဖြောင့်မတ်မှန်ကန်သော တရားလမ်းကိုလည်း ပြသတော်မူ၏။

၁၇။ "အလ္လာဟ်ဟူသည် ဧကန်မလွဲ မရ်ယမ်၏ သားတော် မစီဟ်(အီစာ)ပင်ဖြစ်သည်" ဟူ၍ ပြောဆိုကြကုန်သောသူတို့ကား ဧကန်စင်စစ် သွေဖည်ငြင်းပယ်သူများဖြစ်ခဲ့ကြချေပြီ။ (အို-နဗီတမန်တော်) အသင်သည် (ထိုသူတို့အား ဤသို့ချေပ)ပြောဆိုပါလေ။ ("ဟယ်-အချင်းတို့) သို့ဖြစ်လျှင် အကယ်၍သော ထိုအလ္လာဟ်အရှင်မြတ်သည် 'မရ်ယမ်' ၏ သားတော် 'မစီဟ်'ကိုငှင်း၊ ထို'မစီဟ်'၏ မယ်တော်ကိုငှင်း၊ ကမ္ဘာမြေပြင်ဝယ်ရှိရှိသမျှအားလုံးတို့ကို ဖျက်ဆီးလိုတော်မူပါလျှင်၊ အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်၌ တစုံတရာဝင်ရောက်စွက်ဖက် ကန့်ကွက်နိုင်သူကား မည်သူရှိသနည်း။

---

(၂) တမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကိတာဗီများ၏ များစွာသော အကြောင်းများကို လျစ်လျူရှုထားတော်မူခဲ့၏။ ထိုအကြောင်းများသည် သာသနာရေးနှင့် မည်သို့မျှမဆိုင်ချေ။ ထိုအကြောင်းများ ထုတ်ဖော် ပြောကြားခြင်းဖြင့် သက်ဆိုင်ရာ ပုဂ္ဂိုလ်တို့တွင် အရှက်တကွဲအကျိုးနည်းဖြစ်မည်၊ အကျိုးထူးမရှိချေ။ ထို့အတွက်ကြောင့်ပင် တမန်တော်မြတ်သည် ထိုသို့သောအကြောင်းများကို လျစ်လျူရှုတော်မူခဲ့ပေသည်။ ဤသည်တမန်တော်မြတ်၏ မြင့်မြတ်သော ဂုဏ်အင်္ဂါတရပ်တည်း။ ကြည့် - မာဂျိဒီ။
(၃) 'နူရ်' အလင်းရောင်ဟူသည် နဗီတမန်တော် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) ကိုဆိုလိုသည်။ 'ကိတာဗွန် မုဗီနွန်' ထင်ရှားသော ကျမ်းဂန်ဟူသည် ကုရ်အာန်ကျမ်းမြတ်ကို ဆိုလိုသည်။ (အီဗ်နုဂျရီရ်)

مُلْكُ السَّمٰوٰتِ وَالْاَرْضِ وَمَا بَيْنَهُمَا ؕ يَخْلُقُ مَا يَشَآءُ ؕ وَاللّٰهُ عَلٰى كُلِّ شَىْءٍ قَدِيْرٌ ⑰

အမှန်စင်စစ်သော်ကား မိုးကောင်းကင်များကိုင်၊ ကမ္ဘာမြေကြီးကိုင်၊ မိုးနှင့်မြေကြားရှိ အရာဝတ္ထု အားလုံးတို့ကိုင်၊ အလ္လာဟ် အရှင်မြတ်သာလျှင်စိုးပိုင်တော်မူ၏။ ထိုအရှင်မြတ်သည် မိမိအလိုတော်ရှိရာကို ဖန်ဆင်းတော်မူ၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသော အရှင်ဖြစ်တော်မူ၏။

وَقَالَتِ الْيَهُوْدُ وَالنَّصٰرٰى نَحْنُ اَبْنٰٓؤُا اللّٰهِ وَاَحِبَّآؤُهٗ ؕ قُلْ فَلِمَ يُعَذِّبُكُمْ بِذُنُوْبِكُمْ ؕ بَلْ اَنْتُمْ بَشَرٌ مِّمَّنْ خَلَقَ ؕ يَغْفِرُ لِمَنْ يَّشَآءُ وَيُعَذِّبُ مَنْ يَّشَآءُ ؕ وَلِلّٰهِ مُلْكُ السَّمٰوٰتِ وَالْاَرْضِ وَمَا بَيْنَهُمَا ؗ وَاِلَيْهِ الْمَصِيْرُ ⑱

**၁၈။** ၎င်းပြင် ယဟူဒီတို့သည်၎င်း၊ ခရစ်ယာန်တို့သည်၎င်း၊ "ငါတို့သည် အလ္လာဟ်အရှင်မြတ်၏ သားတော်များလည်းဖြစ်ကြသည်၊ ထိုအရှင်မြတ်၏ အချစ်တော်များလည်းဖြစ်ကြသည်" ဟူ၍ပြောဆိုကြ၏။ (အို- နဗီတမန်တော် အသင်သည် ၎င်းတို့အား ဤသို့)မေးမြန်းပါလေ။ ("အချင်းတို့") သို့ဖြစ်လျှင် ထိုအရှင်မြတ်သည် အဘယ်ကြောင့် အသင်တို့အား အသင်တို့၏ အပြစ်များကြောင့် ပြစ်ဒဏ်စီရင်တော်မူပါသနည်း။

အမှန်မှာ အသင်တို့သည်လည်း ထိုအရှင်မြတ် ဖန်ဆင်းတော်မူသည့် (လူသားများ) အနက်မှ လူသာမန်များပင် ဖြစ်ကြပေသည်။ ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူကို လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူ၍ မိမိအလိုရှိတော်မူသောသူကို ပြစ်ဒဏ်ပေးတော်မူ၏။ အမှန်မှာ မိုးများနှင့် ကမ္ဘာမြေကြီးကိုင်၊ ထိုမိုးနှင့်မြေ၏စပ်ကြားတွင် ရှိရှိသမျှသောအရာများကိုင် အလ္လာဟ်အရှင်မြတ်သာလျှင်စိုးပိုင်တော်မူသည်။ ၎င်းပြင် (လူခပ်သိမ်းတို့သည်) ထိုအရှင်မြတ် ဘက်တော်သို့သာလျှင် ပြန်လည် ရောက်ကြရမည်သာတည်း။

يَٰٓأَهۡلَ ٱلۡكِتَٰبِ قَدۡ جَآءَكُمۡ
رَسُولُنَا يُبَيِّنُ لَكُمۡ عَلَىٰ فَتۡرَةٖ
مِّنَ ٱلرُّسُلِ أَن تَقُولُواْ مَا
جَآءَنَا مِنۢ بَشِيرٖ وَلَا نَذِيرٖۖ
فَقَدۡ جَآءَكُم بَشِيرٞ وَنَذِيرٞۗ
وَٱللَّهُ عَلَىٰ كُلِّ شَيۡءٖ
قَدِيرٞ ١٩

၁၉။ အို-(ရှေးအထက်) ကျမ်းဂန်ရရှိသူ (ယဟူဒီ၊ ခရစ်ယာန်) အပေါင်းတို့၊ အသင်တို့သည် ('ကိယာမတ်' ရှင်ပြန်ထမည့်နေ့တွင်) ကျွန်တော်မျိုး တို့ထံ (မှန်ကန်သော တရားဓမ္မနှင့် စပ်လျဉ်း၍) ဝမ်းမြောက်ဖွယ်ရာ သတင်း ပြောကြားသူ ဟူ၍၎င်း၊ (လမ်းမှားသို့ မရောက်စေရန်) သတိပေး နှိုးဆော်သူ ဟူ၍၎င်း၊ တဦးတယောက်မျှပင် ရောက်ရှိလာခဲ့သည် မရှိပါဟု မပြောဆိုနိုင်ကြရန် ရစူလ်တမန်တော်များ အဆက်ပြတ်နေသော အချိန်ကာလ၌ အရှင်မြတ်၏ ရစူလ် တမန်တော် (မုဟမ္မဒ်)သည် အသင်တို့ထံ ရောက်ရှိလာခဲ့ချေပြီ။ ထိုရစူလ်တမန်တော်(မုဟမ္မဒ်) သည် အသင်တို့အား (မှန်ကန်သော တရားဓမ္မ၊ အမိန့်၊ ပညတ်တို့ကို) ပွင့်လင်းထင်ရှားစွာ ဟောညွှန်လျက်ရှိပေသည်။ သို့ဖြစ်ပေရာ ယခုသော်ကား အသင်တို့ထံ ဝမ်းမြောက်ဖွယ်ရာ သတင်းပြောကြားသူ၊ သတိပေး နှိုးဆော်သူ (နဗီတမန်တော် မုဟမ္မဒ်) သည် ဧကန်မလွဲ ရောက်ရှိလာခဲ့ချေပြီ။ စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَإِذۡ قَالَ مُوسَىٰ لِقَوۡمِهِۦ
يَٰقَوۡمِ ٱذۡكُرُواْ نِعۡمَةَ ٱللَّهِ
عَلَيۡكُمۡ إِذۡ جَعَلَ فِيكُمۡ أَنۢبِيَآءَ
وَجَعَلَكُم مُّلُوكٗا وَءَاتَىٰكُم مَّا

၂၀။ ထို့ပြင်တဝ (ပြန်လည်အောက်မေ့ သတိရရှိကြလေကုန်) အခါတပါး၌ (နဗီတမန်တော်)"မူစာ"သည် မိမိအမျိုးသားတို့အား (ဤသို့) ပြောကြားခဲ့လေသည်။ အို-ငါ၏ အမျိုးသားအပေါင်းတို့၊ အသင်တို့သည် မိမိတို့အပေါ်၌ တင်ရှိသော အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကို ပြန်လည်အောက်မေ့ သတိရကြလေကုန်။ ထိုအရှင်မြတ်သည် အသင်တို့၌ နဗီတမန်တော်များကို ပွင့်စေတော်မူခဲ့လေသည်။

لَمْ يُؤْتِ اَحَدًا مِّنَ الْعٰلَمِيْنَ ﴿٢٠﴾

၎င်းပြင် အသင်တို့အား ဘုရင်မင်းများ (အဖြစ်) လည်း မြှောက်စားတော် မူခဲ့လေသည်။ ၎င်းပြင် အသင်တို့အား စကြာဝဠာတွင် မည်သူတဦးတယောက်ကိုမျှ ချီးမြှင့်တော်မမူခဲ့သော ကျေးဇူးတော်များကိုလည်း ချီးမြှင့်ပေးသနားတော်မူခဲ့လေသည်။

يٰقَوْمِ ادْخُلُوا الْاَرْضَ الْمُقَدَّسَةَ الَّتِيْ كَتَبَ اللّٰهُ لَكُمْ وَلَا تَرْتَدُّوْا عَلٰٓى اَدْبَارِكُمْ فَتَنْقَلِبُوْا خٰسِرِيْنَ ﴿٢١﴾

၂၁။ အို- ကျွန်ုပ်၏ အမျိုးသား အပေါင်းတို့၊ အသင်တို့သည် မိမိတို့အတို့ အလ္လာဟ်အရှင်မြတ်က (သတ်မှတ်) ရေးသားတော်မူပြီးဖြစ်သော ထွတ်မြတ်သည့် (နယ်)အတွင်းသို့ ဝင်ရောက်ကြလေကုန်။ ၎င်းပြင် အသင်တို့သည် မိမိတို့၏နောက်ဘက်သို့ လှည့်၍ ပြန်မသွားကြကုန်လင့်။ သို့ပြန်လှည့် သွားကြပါမူ အသင်တို့သည် ဆုံးရှုံးပျက်စီးသူများ ဖြစ်သွားကြရပေမည်။

قَالُوْا يٰمُوْسٰٓى اِنَّ فِيْهَا قَوْمًا جَبَّارِيْنَ ۖ وَاِنَّا لَنْ نَّدْخُلَهَا حَتّٰى يَخْرُجُوْا مِنْهَا ۚ فَاِنْ يَّخْرُجُوْا مِنْهَا فَاِنَّا دٰخِلُوْنَ ﴿٢٢﴾

၂၂။ ၎င်း(အမျိုးသား)တို့ကမူ (ဤသို့) ဖြေကြားခဲ့ကြလေသည်။ "အို-မူစာ၊ မုချဧကန် ထို(နယ်) မြေ၌ လုံးရပ်အင်အား ကြီးမားသော လူမျိုးတမျိုးသည် ရှိနေကြကုန်၏။ ထိုလူမျိုးတို့သည် ၎င်း(နယ်) မြေအတွင်းမှထွက်ခွာ၍ မသွားသမျှကာလပတ်လုံး ကျွန်ုပ်တို့သည် ယင်း(နယ်)မြေအတွင်းသို့ အလျင်း ဝင်ရောက်ကြမည်မဟုတ်ပေ။ အကယ်၍ ထိုလူမျိုးတို့သည် ၎င်း(နယ်)မြေအတွင်းမှ ထွက်ခွာသွားကြပါမူ၊ ကျွန်ုပ်တို့သည် ဧကန်စင်စစ် (ထိုနယ်မြေအတွင်းသို့) ဝင်ရောက်ကြလတ္တံ့."။

قَالَ رَجُلٰنِ مِنَ الَّذِيْنَ يَخَافُوْنَ اَنْعَمَ اللّٰهُ عَلَيْهِمَا

၂၃။ (ထိုအခါ) အလ္လာဟ် အရှင်မြတ်ကို ကြောက်ရွံ့ကြကုန်သော သူတို့အနက်မှ အလ္လာဟ်အရှင်မြတ် ကျေးဇူးပြုတော်မူသော လူနှစ်ယောက်သည် (ဤသို့) ပြောဆိုကြလေသည်။

ادْخُلُوا عَلَيْهِمُ الْبَابَ ۚ فَإِذَا دَخَلْتُمُوهُ فَإِنَّكُمْ غَالِبُونَ ۚ وَعَلَى اللَّهِ فَتَوَكَّلُوا إِن كُنتُم مُّؤْمِنِينَ ﴿٢٣﴾

(ဟယ်-အချင်းတို့) အသင်တို့သည် ၎င်းတို့အားတိုက်ခိုက်ရင်း တံခါးဝအတွင်းသို့ ဝင်ရောက်ကြလေကုန်။ အကယ်၍သာ အသင်တို့သည် ယင်းတံခါးဝအတွင်းသို့ ဝင်ရောက်ခဲ့ကြပါလျှင်၊ အသင်တို့ သည်သာလျှင် (စစ်ရေး) အောင်မြင်သူများဖြစ်ကြလတ္တံ့။ ၎င်းပြင် အသင်တို့သည် အကယ်၍ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူများဖြစ်ကြပါလျှင်၊ အလ္လာဟ်အရှင်မြတ် အပေါ်၌သာလျှင် ယုံကြည် စိတ်ချအားထားကြလေကုန်။

قَالُوا يَا مُوسَىٰ إِنَّا لَن نَّدْخُلَهَا أَبَدًا مَّا دَامُوا فِيهَا ۖ فَاذْهَبْ أَنتَ وَرَبُّكَ فَقَاتِلَا إِنَّا هَاهُنَا قَاعِدُونَ ﴿٢٤﴾

၂၄။ ထိုအခါ အမျိုးသားတို့က "အို-'မူစာ' ၎င်းတို့သည် ထို (နယ်)မြေအတွင်း ရှိနေသမျှကာလပတ်လုံး မုချဧကန် ကျွန်ုပ်တို့သည် ယင်း(နယ်)မြေအတွင်းသို့ မည်သည့်အခါမျှ အလျှင်းဝင်ရောက်ကြမည်မဟုတ်ပေ၊ သို့ဖြစ်ပေရာ အသင်ကိုယ်တိုင် မိမိအရှင်မြတ်နှင့်တကွ သွားရောက်ပြီးအသင်တို့ နှစ်ဦးသာလျှင် တိုက်ခိုက်ကြလေကုန်။ ကျွန်ုပ်တို့မူကား ဤနေရာ၌ပင် ထိုင်၍နေကြကုန်အံ့" ဟု ပြောဆိုကြကုန်သတည်း။

قَالَ رَبِّ إِنِّي لَا أَمْلِكُ إِلَّا نَفْسِي وَأَخِي ۖ فَافْرُقْ بَيْنَنَا وَبَيْنَ الْقَوْمِ الْفَاسِقِينَ ﴿٢٥﴾

၂၅။ ထိုရောအခါဝယ် (နဗီတမန်တော်)'မူစာ' က "အို-ကျွန်တော်မျိုး၏အရှင်မြတ်၊ ကျွန်တော်မျိုးသည် မိမိကိုယ်နှင့်မိမိ၏နောင်တော် (နဗီတမန်ဟာရူန်) မှတပါး အခြားမည်သူ့အပေါ်၌မျှ အခွင့်အာဏာပိုင်ဆိုင်သည်မရှိပါ။ သို့ဖြစ်ရာ အရှင်မြတ်သည် ကျွန်တော်မျိုးနှင့် (ဤ)စည်းကမ်းဖောက်ဖျက်သွေဖည် ငြင်းဆန်သောလူမျိုးတို့၏စပ်ကြားတွင် အဆုံးအဖြတ်ပေးတော်မူပါဟု လျှောက်ထားပန်ကြားခဲ့လေသည်၊[၁]

---

(၁) တမန်တော်မူစာသည် မိမိ၏အမျိုးသားများအား အမျိုးမျိုးအဖုံဖုံ ဆိုဆုံးမခဲ့၏။ ဆိုဆုံးမ၍ လုံးဝ ➤➤

قَالَ فَإِنَّهَا مُحَرَّمَةٌ عَلَيْهِمْ أَرْبَعِينَ سَنَةً يَتِيهُونَ فِي الْأَرْضِ فَلَا تَأْسَ عَلَى الْقَوْمِ الْفَاسِقِينَ ﴿٢٦﴾

၂၆။ ထိုအခါဝယ် (အလ္လာဟ် အရှင်မြတ်ကမူ) "သို့ဖြစ်လျှင် ဧကန်စင်စစ် ထို (နယ်)မြေသည် ၎င်းတို့အဖို့ နှစ်ပေါင်းလေးဆယ်တိုင်တိုင် 'ဟရာမ်' ဖြစ်တားထားပြီးဖြစ်ချေပြီ။ ၎င်းတို့သည် (ဤသိနကျွန်းစွယ်၏နယ်) မြေ၌ပင် တဝဲလည်လည် ဖြစ်ကြလတ္တံ့။ သို့ဖြစ်ပေရာ အသင် (နဗီတမန်တော် မူစာ) သည် (ဤ)စည်းကမ်းဖောက်ဖျက် အမိန့်တော်ကို သွေဖည်ငြင်းဆန်သော လူမျိုးနှင့်ပတ်သက်၍ (လုံးဝ) ပူဆွေးဝမ်းနည်းခြင်း မရှိပါလေနှင့်" ဟု မိန့်ကြားတော်မူခဲ့လေသတည်း။

وَاتْلُ عَلَيْهِمْ نَبَأَ ابْنَيْ آدَمَ بِالْحَقِّ إِذْ قَرَّبَا قُرْبَانًا فَتُقُبِّلَ مِنْ أَحَدِهِمَا وَلَمْ يُتَقَبَّلْ مِنَ الْآخَرِ قَالَ لَأَقْتُلَنَّكَ قَالَ إِنَّمَا يَتَقَبَّلُ اللَّهُ مِنَ الْمُتَّقِينَ ﴿٢٧﴾

၂၇။ ၎င်းပြင် (အို -နဗီတမန်တော်) အသင်သည် ထိုသူတို့အား အာဒမ်၏ သားတော် နှစ်ဦး၏ အကြောင်းကို မှန်ကန်စွာ ပြောပြပါလေ။ တရံရောအခါ ထိုသားတော်နှစ်ဦးသည် (အလ္လာဟ်အရှင်မြတ်အားရည်စူး၍) တစုံတရာ အလှူဝတ္ထုကို ပူဇော်သက္ကာရပြုကြလေရာ ၎င်းတို့နှစ်ဦးအနက် တဦး (ဖြစ်သော ညီတော်ဟာဗီဟ်)၏ ပူဇော်သက္ကာရ ဝတ္ထုပစ္စည်းသည် (အလ္လာဟ်အရှင်မြတ်)၏ သဘောတူတော်မူခြင်းခံရပြီး၊ အခြားတဦး(ဖြစ်သောနောင်တော် ကာဗီလ်)၏ ပူဇော်သက္ကာရ ဝတ္ထုပစ္စည်း မှာမူ (အလ္လာဟ်အရှင်မြတ်၏) သဘောတူတော်မူခြင်းကို ခံခဲ့ရသည်မရှိချေ။

(သို့ဖြစ်ပေရာ "ကာဗီလ်" က "ဟာဗီလ်" အား) "ငါသည် အသင့်ကို မုချသတ်မည်" ဟု ပြောဆိုခဲ့၏။

➤➤ မရသည့် အဆုံးတွင် စိတ်လျှော့ကာ "ကျွန်တော်မျိုးတို့နှင့် သွေဖည်ငြင်းဆန်သော အမျိုးသားများ၏ စပ်ကြားတွင် အဆုံးအဖြတ်ပေးတော်မူပါ" ဟူ၍ ဆုပန်ကြားရှာလေတော့သည်။ ကြည့် - မာဂျိဒီ။

("ဟာဗီလ်" က) "အလ္လာဟ်အရှင်မြတ်သည် သူတော်စင်များ၏ ထံမှသာလျှင် (ပူဇော်သက္ကာရများကို) သဘောတူ လက်ခံတော်မူပေသည်" ဟု ပြောကြားလေသည်။

၂၈။ အသင်သည် အကယ်၍ ကျွန်ုပ်အား သတ်ဖြတ်ရန် မိမိလက်ကို လှမ်းခဲ့အံ့ငြားလည်း ကျွန်ုပ်သည် အသင့်အား သတ်ဖြတ်ရန် အသင့်ဘက်သို့ ကျွန်ုပ်၏လက်ကို လှမ်းမည်မဟုတ်ပေ။ ဧကန်စင်စစ် ကျွန်ုပ်သည် စကြာဝဠာခပ်သိမ်းတို့ကို မွေးမြူဖန်ဆင်းတော်မူသော အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့သောကြောင့်ပင်တည်း။

لَئِنۢ بَسَطتَّ إِلَىَّ يَدَكَ لِتَقْتُلَنِى مَآ أَنَا۠ بِبَاسِطٍ يَدِىَ إِلَيْكَ لِأَقْتُلَكَ ۖ إِنِّىٓ أَخَافُ ٱللَّهَ رَبَّ ٱلْعَٰلَمِينَ ﴿٢٨﴾

၂၉။ ဧကန်စင်စစ် ကျွန်ုပ်(အား သတ်ဖြတ်ခြင်း)၏အပြစ်ကိုင်း၊ အသင်၏ (ယခင်)အပြစ်ကိုင်း၊ အသင်သာလျှင် (မိမိပခုံးဖြင့်) ထမ်းဆောင်၍ ပြန်သွားရန် ကျွန်ုပ်ရည်စူး၏။ ထို့နောက် အသင်သည် ငရဲသားတို့တွင် အပါအဝင် ဖြစ်ချေမည်။ အမှန်စင်စစ် ဤသည်သာလျှင် မတော်မတရား ပြုမူသောသူတို့၏ အကျိုးတည်း။

إِنِّىٓ أُرِيدُ أَن تَبُوٓأَ بِإِثْمِى وَإِثْمِكَ فَتَكُونَ مِنْ أَصْحَٰبِ ٱلنَّارِ ۚ وَذَٰلِكَ جَزَٰٓؤُا۟ ٱلظَّٰلِمِينَ ﴿٢٩﴾

၃၀။ ထို့နောက် ထို(ကာဗီလ်)၏ စိတ်သည် ၎င်းအား မိမိညီတော်(ဟာဗီလ်)ကို သတ်ဖြတ်ရန် တိုက်တွန်းခဲ့ပေရာ၊ ယင်း(ကာဗီလ်)သည် မိမိညီတော် (ဟာဗီလ်)ကို သတ်ဖြတ်ခဲ့လေသည်။ သို့ဖြစ်ပေရာ ၎င်းသည် ကျိုးယုတ် ပျက်ပြားသူတို့အနက် အပါအဝင် ဖြစ်သွားခဲ့လေသတည်း။

فَطَوَّعَتْ لَهُۥ نَفْسُهُۥ قَتْلَ أَخِيهِ فَقَتَلَهُۥ فَأَصْبَحَ مِنَ ٱلْخَٰسِرِينَ ﴿٣٠﴾

၃၁။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် ကျီးကန်းတကောင်ကို စေလွှတ်တော်မူခဲ့လေ၏။

فَبَعَثَ ٱللَّهُ غُرَابًا يَبْحَثُ

فِى الْاَرْضِ لِيُرِيَهٗ كَيْفَ
يُوَارِىْ سَوْءَةَ اَخِيْهِ ؕ قَالَ
يٰوَيْلَتٰۤى اَعَجَزْتُ اَنْ اَكُوْنَ
مِثْلَ هٰذَا الْغُرَابِ فَاُوَارِىَ
سَوْءَةَ اَخِىْ ۚ فَاَصْبَحَ مِنَ
النّٰدِمِيْنَ ﴿۳۱﴾

ထိုကျီးကန်းသည် ၎င်း(ကာဗီလ်)အား မိမိညီတော် (ဟာဗီလ်)၏ ရုပ်ကလာပ်ကို မည်သို့မည်ပုံ (မြှုပ်နှံ) ဖုံးအုပ် လျှို့ဝှက်ရမည်ကို ပြသရန် အလို့ငှာ မြေကြီးကို ကုတ်ခြစ်တူးဆွလေသည်။

ထိုအခါ ယင်း(ကာဗီလ်)က "သြော် ငါသည် ဤကျီးကန်းကဲ့သို့ပင် မဖြစ်နိုင်သည်မှာ ဝမ်းနည်းဖွယ်ကောင်းလေစွတကား။ အကယ်၍သာ (ယင်းကျီးကန်းကဲ့သို့) ဖြစ်နိုင်ခဲ့မူ ငါသည် မိမိညီတော် (ဟာဗီလ်)အား (မြေကြီးတူး၍မြှုပ်နှံ) ဖုံးအုပ် လျှို့ဝှက်နိုင်မည်သာဖြစ်ချေသည်" ဟု ပြောဆို (ညည်းညူမြည်တမ်း) ခဲ့လေသည်။ ထို့နောက် ၎င်း(ကာဗီလ်)သည် နောင်တရသူတို့တွင် အပါအဝင် ဖြစ်လေသတည်း။

مِنْ اَجْلِ ذٰلِكَ ۛۚ كَتَبْنَا عَلٰى
بَنِىْۤ اِسْرَآءِيْلَ اَنَّهٗ مَنْ
قَتَلَ نَفْسًۢا بِغَيْرِ نَفْسٍ
اَوْ فَسَادٍ فِى الْاَرْضِ فَكَاَنَّمَا
قَتَلَ النَّاسَ جَمِيْعًا ؕ وَمَنْ
اَحْيَاهَا فَكَاَنَّمَاۤ اَحْيَا النَّاسَ
جَمِيْعًا ؕ وَلَقَدْ جَآءَتْهُمْ
رُسُلُنَا بِالْبَيِّنٰتِ ثُمَّ اِنَّ

၃၂။ ထို့အတွက်ကြောင့်ပင် ငါအရှင်မြတ်သည် အစ္စရာအီလီ မျိုးနွယ်တို့အပေါ်၌ (ဤသို့)အမိန့်ပြဋ္ဌာန်းတော်မူခဲ့လေသည်။ ဧကန်စင်စစ် မည်သူမဆို အကြင်သူတဦးတယောက်အား အသက်တချောင်း၏ အစားလည်းမဟုတ်ဘဲ၊ တိုင်းပြည်၌ ဆူပူသောင်းကျန်း(မှုကို ပြုလုပ်)ခြင်းကြောင့်လည်း မဟုတ်ဘဲ (မတရားသက်သက်) သတ်ဖြတ်ခဲ့ပါလျှင်၊ ထိုသူသည် လူခပ်သိမ်းတို့ကို သတ်ဖြတ်ဘိသကဲ့သို့ပင်ဖြစ်၏။

ထိုနည်းတူစွာ မည်သူမဆို လူတဦးတယောက်ကို (အသက်ဘေးအန္တရာယ်မှ ကယ်ဆယ်ခြင်းအားဖြင့်) အသက်ရှင်စေခဲ့ပါမူ၊ ထိုသူသည် လူအပေါင်းတို့အား အသက်ရှင်စေဘိသကဲ့သို့ပင် ဖြစ်၏။

كَثِيرًا مِّنْهُم بَعْدَ ذَٰلِكَ فِي الْأَرْضِ لَمُسْرِفُونَ ﴿٣٢﴾

ငင်းအပြင် ငါအရှင်မြတ်၏ ရစူလ်တမန်တော်များသည် ထို(အစ္စရာအီလီလူမျိုး) တို့ထံ ထင်ရှားလှစွာသော အမိန့်ပညတ်တော်များ၊ သက်သေလက္ခဏာတော်များနှင့်တကွ မုချ ရောက်ရှိလာခဲ့ကြလေ၏။ သို့ပါလျက်နှင့်ပင် ယင်း (အစ္စရာအီလီလူမျိုး)တို့တွင် များစွာသော သူတို့သည် တိုင်းပြည်၌ စည်းကမ်းဖောက်ဖျက် ကျူးလွန်သူများ အဖြစ် ရှိကြသေး၏။

إِنَّمَا جَزَٰٓؤُا۟ ٱلَّذِينَ يُحَارِبُونَ ٱللَّهَ وَرَسُولَهُۥ وَيَسْعَوْنَ فِى ٱلْأَرْضِ فَسَادًا أَن يُقَتَّلُوٓا۟ أَوْ يُصَلَّبُوٓا۟ أَوْ تُقَطَّعَ أَيْدِيهِمْ وَأَرْجُلُهُم مِّنْ خِلَٰفٍ أَوْ يُنفَوْا۟ مِنَ ٱلْأَرْضِ ۚ ذَٰلِكَ لَهُمْ خِزْىٌ فِى ٱلدُّنْيَا ۖ وَلَهُمْ فِى ٱلْءَاخِرَةِ عَذَابٌ عَظِيمٌ ﴿٣٣﴾

၃၃။ အကြင်သူတို့သည် အလ္လာဟ် အရှင်မြတ်နှင့် ထို အရှင်မြတ်၏ ရစူလ် တမန်တော်မြတ်(၏ အမိန့်တော်များ)ကို (သွေးဖည်ငြင်းဆန်ပုန်ကန်) တိုက်ခိုက်ကြကုန်၏။ ငင်းပြင် ကမ္ဘာမြေပြင်ဝယ် ပျက်စီးရာ ပျက်စီးကြောင်းကို ပြုလုပ်ကြကုန်၏။[၁] ထိုသူတို့၏ အပြစ်ဒဏ်သည်ကား ငင်းတို့သည် သတ်ဖြတ်ခြင်း ခံကြရမည်၊ သို့မဟုတ် လက်ဝါးကပ်တိုင်တင်ခြင်း ခံကြရမည်၊ သို့မဟုတ် ငင်းတို့၏ ခြေလက်တို့ကို လက်ျာ လက်ဝဲ ဘက်လွဲ၍ ဖြတ်တောက်ခြင်း ခံကြ ရမည်၊ သို့မဟုတ် ပြည်နှင်ဒဏ်ပေးခြင်း ခံကြ ရမည်ဖြစ်၏။ ဤသည်ကားငင်းတို့အား မျက်မှောက်ဘဝ၌ ကျိုးယုတ်ရှက်ရဖြစ်စေခြင်းပင်ဖြစ်၏။ ငင်းပြင် ထိုသူတို့၌ နောင်တမလွန်ဘဝတွင်(လည်း) အလွန်ကြီးလေး သော ပြစ်ဒဏ်သည် ရှိပေမည်။

---

(၁) ဤမုက္ခပါဌ်တော်တွင် “အကြင်သူများသည် အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ ရစူလ်တမန်တော်ကို ပုန်ကန်တိုက်ခိုက်ခဲ့ကြ၏” ဟူ၍ငင်း၊ “ငင်းပြင် ထိုသူများသည် ကမ္ဘာမြေပြင်တွင် ပျက်စီးရာ ပျက်စီးကြောင်းကို ပြုလုပ်ကြ၏” ဟူ၍ငင်း၊ ဝါကျနှစ်ခုပါရှိ၏။ အဆိုပါ ဝါကျနှစ်ခုတွင် ဒုတိယဝါကျသည် ပဌမဝါကျ၏ အဖွင့်သဘော ဖြစ်သည်။ ကြည့်-မာရိုဒီ။ ➤➤

➤➤ ဤမုကွပါဠ်တော်တွင် ပါရှိသည့် "ပျက်စီးရာ ပျက်စီးကြောင်း ဟူသောပုဒ်ကို များစွာသော 'မုဖတ်စ်စစ်ရ်' တို့က ဓါးပြတိုက်ခြင်း" ဟူ၍ အနက်ဖွင့်ကြ၏။ သို့ရာတွင် ကုရ်အာန်ကျမ်းမြတ်တွင် ဓမ္မဓိဌာန် မိန့်ဆို ထားတော်မူသည့် အတိုင်း ယင်းပုဒ်ကို ဓမ္မဓိဌာန်အနက်၌ထားလျှင် အဓိပ္ပါယ်သည် ပိုမို ကျယ်ဝန်းလာမည်ဖြစ်၏။ ဤမုကွပါဠ်တော် ထုတ်ပြန်ပို့ချရသည့်အကြောင်းနှင့် စပ်လျဉ်းသော 'ဟဒီဆ်' တော်များသည်လည်း အဆိုပါပုဒ်၏ ဓမ္မဓိဌာန် ဖြစ်ခြင်းကိုပင် ရည်ညွှန်းလျက်ရှိ၏။ အဆိုပါပုဒ်ကို ဓမ္မဓိဌာန်အနက်၌ ယူဆသည်ရှိသော် ယင်းပုဒ်တွင် ကာဖိရ်များ၏ တိုက်ခိုက်မှု၊ အစ္စလာမ်သာသနာမှ ဖောက်ပြန်သွားမှု၊ ဓါးပြတိုက်မှု၊ မတရားသတ်ဖြတ်မှု၊ လုယက်မှု၊ ရာဇဝတ်မကင်းသော လုပ်ကြံမှု၊ လမ်းမှားစေသော လှုံ့ဆော်မှုများ၊ အားလုံး အကျုံးဝင်ပေမည်။

အထက်တွင် ဖော်ပြပါပြစ်မှု တစ်ရပ်ရပ်ကို ကျူးလွန်ခဲ့သည်ရှိသော် ဤမုကွပါဠ်တော်တွင် ပါရှိသည့်အတိုင်း အောက်ပါပြစ်ဒဏ် လေးရပ်အနက် ပြစ်ဒဏ်တရပ်ရပ်ကို ခံရမည်ဖြစ်၏။

(၁) သတ်ဖြတ်ကွပ်မျက်ခြင်း။

(၂) လက်ဝါးကပ်တိုင်တင်ခြင်း။

(၃) ခြေလက်များကို လကျာ လက်ဝဲ ဘက်လွဲ၍ ဖြတ်တောက်ခြင်း။

အကြင်သူသည် လူကိုသတ်၏။ သို့ရာတွင် ပစ္စည်းကို မယူဖြစ်ခဲ့ချေ၊ ထိုသူသည် သတ်ဖြတ်ခြင်း ခံရမည်ဖြစ်၏။ အကြင်သူသည် လူကိုလည်းသတ်၏။ ပစ္စည်းကိုလည်းယူ၏။ ထိုသူသည် လက်ဝါးကပ်တိုင် အတင်ခံရမည်ဖြစ်၏။ အကြင်သူသည် ပစ္စည်းကိုယူ၏။ သို့ရာတွင် လူကိုမသတ်ခဲ့ချေ။ ထိုသူသည် ခြေလက်များကို လကျာ၊ လက်ဝဲ၊ ဘက်လွဲ၍ အဖြတ်ခံရမည်ဖြစ်၏။ အကြင်သူသည် ပစ္စည်းကိုလည်း မယူဖြစ်၊ လူကိုလည်း မသတ်ဖြစ်၊ လုယက်တိုက်ခိုက်ရန် ကြံစည်ပြီးသည့်နောက်တွင် အဖမ်းခံလိုက်ရသော် ထိုသူသည် ပြည်နှင်ဒဏ်ပေးခြင်း ခံရမည်ဖြစ်၏။

ဤအကြောင်းနှင့် စပ်လျဉ်း၍ အသေးစိတ်ဓမ္မသတ်များကို 'ဟိဒါယဟ်' ကျမ်းတွင် ရှုပါကုန်။

**<u>မှတ်ချက်။</u>**

"အန္နဖ်ယုမိနလ်အရ်ဒ်သွိ" ၏ အလိုသဘောတရပ်မှာ ပြည်နှင်ဒဏ်ပေးခြင်း ဟူ၍ဖြစ်၏။ အခြား အလိုသဘောတရပ်မှာ သက်ဆိုင်ရာ ပြစ်မှုကျူးလွန်သူအား တိုင်းပြည်တွင် လွတ်လပ်စွာ သွားလာနိုင်ခြင်း မရှိစေရန်အတွက် အကျဉ်းထောင်ချထားခြင်း ဟူ၍ပင်ဖြစ်၏။ ဟနဖီ ဓမ္မသတ်ရှင်များသည် အထက်ပါ အလိုသဘော နှစ်ရပ်အနက် ဒုတိယ အလိုသဘောကို နှစ်ခြိုက်ကြ၏။ "အဟ်လုလ္လုဃတ်" အဘိဓာန်ရှင်များ ကလည်း ဤဒုတိယ အလိုသဘောကိုပင် ထောက်ခံကြ၏။ 'အန္နဖ်ယုမိနလ်အရ်ဒ်သွိ' ဟူသည် အကျဉ်းထောင် ချထားခြင်း ဖြစ်သည်ဟူ၍ အေမာမ်အဗူဟနီဖဟ် သခင်က ဆို၏။ ဤသည်များစွာသော 'အဟ်လုလ္လုဃတ်' အဘိဓာန်ရှင်များ နှစ်ခြိုက်သောအဆိုလည်းဖြစ်၏။ (ကဗီရ်)

ကျွန်ုပ်တို့ (ဟနဖီများ) ထံတွင် 'အန္နဖ်ယု' ၏ အလိုသဘောမှာ ချုပ်နှောင်ခြင်း၊ ထောင်ချခြင်း ဟူ၍ဖြစ်၏။ အရဗ် လူမျိုးတို့သည်လည်း 'အန္နဖ်ယု' ဟူသောပုဒ်ကို ဤအနက်၌ပင် သုံးစွဲကြလေသည်။ အဘယ်ကြောင့်ဆိုသော် (အကျဉ်းထောင်ချထားခြင်းခံရသော) လူသည် မိမိ၏အိမ်မှငှင်း၊ မိမိ၏ အိမ်သူ အိမ်သားများမှငှင်း၊ ကွဲကွာ၍ နေရခြင်းကြောင့်ဖြစ်သည်။ (ရှုဟ်)

၎င်း(အရဗ်)တို့၏ 'အန္နဖ်ယု' ဟူသည် အမြဲတစေ အကျဉ်းထောင်ချထားခြင်းကို ဆိုသည်ဟု အဆိုရှိသည်။ (တာဂျ်-လိစာန်။) ➤➤

إِلَّا الَّذِينَ تَابُوا مِن قَبْلِ أَن تَقْدِرُوا عَلَيْهِمْ ۖ فَاعْلَمُوا أَنَّ اللَّهَ غَفُورٌ رَّحِيمٌ ﴿٣٤﴾

၃၄။ သို့ရာတွင် အကြင်သူတို့သည် အသင်တို့ လက်ရမဖမ်းဆီးမီ (သတိသံဝေဂ၊ နောင်တတရား ရရှိကာ) ဝန်ချတောင်းပန်ခဲ့ကြ သည်ရှိသော်၊ ဧကန် စင်စစ် "အလ္လာဟ်အရှင်မြတ်" သည် အလွန်တရာမျှ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ အလွန် သနားကြင်နာညှာတာတော် မူသောအရှင်မြတ် ပင် ဖြစ်တော်မူကြောင်းကို အသင်တို့သည် သိထားကြ လေကုန်။ ၁

يَا أَيُّهَا الَّذِينَ آمَنُوا اتَّقُوا اللَّهَ وَابْتَغُوا إِلَيْهِ الْوَسِيلَةَ وَجَاهِدُوا فِي سَبِيلِهِ لَعَلَّكُمْ تُفْلِحُونَ ﴿٣٥﴾

၃၅။ အို- "မုအ်မင်န်" သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ် ကို ကြောက်ရွံ့ကြလေကုန်။ ၎င်းပြင်အသင်တို့သည် *ထိုအရှင်မြတ်၏ အပါးတော်သို့ ချဉ်းကပ်မှုကို* ၂ ရှာဖွေကြလေကုန်။ ထိုမှတပါး၊ အသင်တို့သည် (နောင်တမလွန်ဘဝတွင်) အောင်မြင်ကြအံ့သောငှါ ထိုအရှင်မြတ်၏ လမ်းတော်၌ (စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ကြလေကုန်)၊ (တနည်း) (အပတ်တကုတ် ကြိုးစားအားထုတ်ကြလေကုန်)။

---

➤➤ ဟနဖီ ဓမ္မသတ်ရှင်များက ပြောဆိုကြသည်မှာ - အကယ်၍ ပြစ်မှုကျူးလွန်သူအား ပြည်နှင်ဒဏ် ပေးလိုက်သည်ရှိသော် ထိုသူသည် အစ္စလာမ်နိုင်ငံသို့သော်လည်းကောင်း၊ 'ဒါရုလ်ဟရ်ဗ်' ကာဖိရ်နိုင်ငံသို့ သော်လည်းကောင်း ရောက်ရှိသွားပေမည်။ အကယ်၍ ထိုသူသည် အစ္စလာမ်နိုင်ငံသို့ ရောက်ရှိသွားသော် ထိုသူသည် ထိုနိုင်ငံတွင်လည်း ပျက်စီးရာ ပျက်စီးကြောင်း ပြုလုပ်ပေမည်။ အကယ်၍ ကာဖိရ်နိုင်ငံသို့ ရောက်ရှိသွားသော် အစ္စလာမ်၏ ရန်သူများအား အားပေးရာရောက်ပေမည်။ ထို့အတွက်ကြောင့် 'အန္နဖ်ယု' ၏ အလိုသဘောမှာ ချုပ်နှောင်ခြင်း၊ အကျဉ်းထောင်ချခြင်းဟူ၍ပင် ယူဆရပေမည်။ ကြည့်-မာဂျိဒီ။

(၁) ဆိုလိုသည်ကား-အထက်တွင်ပါရှိသော အပြစ်ဒဏ်များသည် 'ဟဒ္ဒ'၊ 'ဟတ်က္ကုလ္လာဟ်' အလ္လာဟ်အရှင်မြတ် သတ်မှတ်ပြဋ္ဌာန်းထားတော်မူသော အာဏာစက်အရ ဖြစ်သည်။ ထိုအပြစ်ဒဏ်များသည် လူသားတို့၏ ခွင့်လွှတ်ခြင်းဖြင့် ခွင့်လွှတ်နိုင်သည်မရှိချေ။ (အထက်တွင်ပါရှိသော အပြစ်ဒဏ်များသည်) လူသားတို့၏ ခွင့်လွှတ်ခြင်းဖြင့် ခွင့်လွှတ်နိုင်သည့် 'ကိဆွာဆ်' သတ်စား သတ်ခြင်း၊ 'ဟတ်က္ကုလ်အဗ်ဒ်' လူနှင့် သက်ဆိုင်သည့် အခွင့်အလမ်းမျိုး မဟုတ်ချေ။ ထို့အတွက်ကြောင့် ပြစ်မှုကျူးလွန်သောသူများသည် ဖမ်းဆီးခြင်း မခံရမီအလျင် အမှန်တကယ် ဝန်ချတောင်းပန်ခဲ့ကြသည်ရှိသော် အလ္လာဟ်အရှင်မြတ်၏အာဏာစက်မှ ခွင့်လွှတ်သွား ➤➤

➤➤ နိုင်ကြပေမည်။ သို့ရာတွင် (ယင်းကဲ့သို့ အလ္လာဟ်အရှင်မြတ်၏ အာဏာစက်မှ လွတ်ကင်း၍ပင် သွားကြလင့်ကစား) 'ဟတ်ကွုလ်အဗ်ဒ်' လူတို့နှင့်သက်ဆိုင်သည့် အခွင့်အလမ်းများသည် ကျန်ရှိ၍ပင် နေပေသေးသည်။ ဥပမာ – အကယ်၍ပင် တဦးတယောက်၏ ပစ္စည်းကို ခိုးဝှက်တိုက်ခိုက် ယူသည်ရှိသော် ပစ္စည်းကို ပြန်လည်ပေးရပေမည်။ တဦးတယောက်အား သတ်ဖြတ်ခဲ့သည်ရှိသော် သတ်စားသတ်ခြင်း ခံရပေမည်။ သို့ရာတွင် ပစ္စည်းပြန်လည်ပေးခြင်း၊ သတ်စားသတ်ခြင်းကို ခွင့်လွှတ်နိုင်သော အခွင့်အာဏာသည် သက်ဆိုင်ရာ ပစ္စည်းရှင်နှင့် အသတ်ခံရသူ၏ သက်ဆိုင်ရာသားချင်းတို့တွင် တည်ရှိပေသည်။ ကြည့် – ထာနဝီ။

(၂) 'ဝစီလဟ်' ဟူသည် နီးကပ်မှုကိုဆိုလိုသည်။ (အီဗ်နုဂျရီရ်) 'ဝစီလဟ်' ဟူသောပုဒ်၏အနက်ကို အဗူဝါအစ်လ်၊ ဟစန်၊ မုဂျာဟစ်ဒ်၊ ကတာဒဟ်၊ အတွာ၊ စုဒီ၊ အီဗ်နုဇိုက်ဒ်၊ အဗ်ဒုလ္လာဟ်–အီဗ်နုကသီရ် တို့ကလည်း နီးကပ်မှုဟူ၍ပင် ဖွင့်ဆိုကြ၏။ ထို့အတူပင် ကုရ်တုဗီ၊ အီဗ်နုကုတိုင်ဗဟ်တို့ကလည်း အနက်ဖွင့်ဆိုကြ၏။

အလ္လာဟ်အရှင်မြတ်၏ထံတော်ပါးသို့ ချဉ်းကပ်ရန် အကောင်းဆုံး အကြောင်းတရားမှာ ထိုအရှင်မြတ်၏အမိန့်တော်ကို နာခံခြင်း၊ ထိုအရှင်မြတ် နှစ်သက်တော်မူသော အရာကို ပြုကျင့်ခြင်းပင်ဖြစ်သည်။

"ထိုအရှင်မြတ်ထံသို့ နီးကပ်မှုကို ရှာဖွေကြလေကုန်" (ဝါ)အသင်တို့သည် ထိုအရှင်မြတ်၏ ထံတော်သို့ ထိုအရှင်မြတ်၏ အမိန့်တော် နာခံခြင်းဖြင့်၎င်း၊ ထိုအရှင်မြတ်နှစ်မြို့တော်မူသော အရာကို ပြုကျင့်ခြင်းအားဖြင့်၎င်း ချဉ်းကပ်ကြကုန်။ (အီဗ်နုဂျရီရ်)

အချို့သူများသည် ဤမုကဒ္ဒပါဌ်တော်တွင်ပါရှိသည့် 'ဝစီလဟ်'ဟူသောပုဒ်ကို အုရ်ဒူစာပေတွင် ခေါ်ဝေါ်သုံးစွဲသော 'ဝစီလဟ်'ဟူသောပုဒ်နှင့် အဓိပ္ပါယ်တူဟူ၍ယူဆကာ နဗီများ၊ ဝလီများ၊ သူတော်ကောင်းများအား အကူအညီ တောင်းခြင်းကို ပြုပိုင်သည်ဟူ၍ ယူဆကြ၏။ ဤကားအလွန်ဆိုးရွားသော မှားယွင်းမှုကြီးပင်ဖြစ်သည်။

ဤအကြောင်းနှင့်စပ်လျဉ်း၍ အလ္လာမဟ်အာလူစီသခင်က အကျယ်တဝင့် ရေးသားဖော်ပြထား၏။ ဤတွင်အလ္လာမဟ် အာလူစီသခင်၏ အချို့ကောက်နုတ်ချက်များကို ဖော်ပြလိုပေသည်။

**"သေသူတဦးတယောက်ထံ တောင်းဆိုပန်ကြားခြင်းသည် မပြုပိုင်သော အမှုဖြစ်၏။** ဤကိစ္စနှင့် စပ်လျဉ်း၍ မည်သည့်အာလင်မ်မျှ ဒွိဟမရှိချေ။ သူသေတဦးတယောက်ထံ တောင်းဆို ပန်ကြားခြင်းသည် 'ဗစ်ဒ်အတ်' ဖြစ်သည်။ အတိတ်ခေတ်ရှိ ပညာရှင်သုခမိန်တို့အနက် တပါးမျှထိုအမှုကို မပြုခဲ့ချေ။

ဆွဟာဗဟ် သာဝကကြီးများသည် ကောင်းမှုကုသိုလ်ကို အထူးလိုလားခဲ့ကြ၏။ ထိုသာဝကကြီးများ အနက် မည်သည့်သာဝကတပါးမျှ သူသေထံမှ တစုံတရာပန်ကြားခဲ့သည်ဟူ၍ကား အလျင်း မရှိချေ။

သာဝကကြီး အဗ်ဒုလ္လာဟ် အီဗ်နုအုမရ်သခင်သည် တမန်တော်မြတ်၏ လမ်းစဉ်ကို လိုက်နာကျင့်သုံး ရာတွင် အထူးပင်ကျော်ကြားခဲ့၏။ ထိုသာဝကကြီးသည် ဇိယာရတ်ပြုရန် တမန်တော်မြတ်၏ သင်းချိုင်းတော် အတွင်းသို့ ဝင်သောအခါ အို–အလ္လာဟ်အရှင်မြတ်၏ရစူလ်၊ အတ်စ္စလာမုအလိုင်ကွန်မ်။ အို–အဗာဗတ်ကရ် အတ်စ္စလာမို့ အလိုင်ကွန်မ်။ အို–ဘခင်၊ အတ်စ္စလာမုအလိုင်ကွန်မ် ဟူ၍ စလာမ်ဆို၏။ ထို့နောက်ပြန်ထွက်လာ၏။ ထို့ထက်ပို၍ တခွန်းတပါဒမျှမပြော။ တမန်တော်မြတ်ထံတွင်လည်း တစုံတရာ မပန်ကြား တမန်တော်မြတ်၏ အပါးတွင်ရှိသော သာဝကကြီး နှစ်ပါးထံတွင်လည်း တစုံတရာ မပန်ကြားခဲ့ချေ။ အမှန်မှာ ထိုသူမြတ်တို့မှာ ကမ္ဘာတွင် အမြင့်မြတ်ဆုံးပင် ဖြစ်ကြလေသည်။

သာဝကကြီးများသည် တမန်တော်မြတ်၏ သင်းချိုင်းတော်တွင် အလ္လာဟ်အရှင်မြတ်အထံတော်၌ ဆုပန်ကြားကြသောအခါတွင် တမန်တော်မြတ်၏ သင်းချိုင်းတော်ဘက်သို့ မျက်နှာမမူဘဲ "ကအ်ဗဟ်" ကျောင်းတော်ဘက်သို့သာလျှင် မျက်နှာမူလေ့ရှိကြလေသည်။ (ကြည့်–မာဂျိဒီ)

إِنَّ الَّذِينَ كَفَرُوا لَوْ أَنَّ لَهُم مَّا فِي الْأَرْضِ جَمِيعًا وَمِثْلَهُ مَعَهُ لِيَفْتَدُوا بِهِ مِنْ عَذَابِ يَوْمِ الْقِيَامَةِ مَا تُقُبِّلَ مِنْهُمْ ۖ وَلَهُمْ عَذَابٌ أَلِيمٌ ٣٦

၃၆။ ဧကန်စင်စစ် သွေဖည် ငြင်းပယ်သောသူတို့သည် (မည်သည့်အခါမျှ မိမိတို့၏ အပြစ်များမှ ချမ်းသာခွင့် ရရှိကြလိမ့်မည်မဟုတ်ပေ)။ အကယ်၍ "ကိယာမတ်" ရှင်ပြန်ထမည့်နေ့၏ ပြစ်ဒဏ်များမှ လျော်ကြေးပေး၍ လွတ်မြောက်ခြင်းငှာ ၎င်းတို့ထံ၌ ကမ္ဘာလောက၌ ရှိရှိသမျှသော ဥစ္စာပစ္စည်းအားလုံး ရှိသည့်ပြင် ၎င်းနှင့်တကွ ထိုမျှလောက်သော ဥစ္စာပစ္စည်း နောက်ထပ်ရှိသော်လည်း ထိုပစ္စည်းများကို (လျော်ကြေးပေးကြသည့်တိုင်) ၎င်းတို့ထံမှ သဘောတူ လက်ခံတော်မူလိမ့်မည် မဟုတ်ပေ။ [1] အမှန်သော်ကား ထိုသူတို့အဘို့ အလွန်ပြင်းပြ နာကျင်ဘွယ်ဖြစ်သော အပြစ်ဒဏ်သည် အဆင့်သင့်ရှိပေသည်။

يُرِيدُونَ أَن يَخْرُجُوا مِنَ النَّارِ وَمَا هُم بِخَارِجِينَ مِنْهَا ۖ وَلَهُمْ عَذَابٌ مُّقِيمٌ ٣٧

၃၇။ ၎င်းတို့သည် "ဂျဟန္နမ်" ငရဲမီးမှ ထွက်လိုကြကုန်အံ့။ သို့ရာတွင်မူကား ၎င်းတို့သည် (မည်သည့်အခါမျှ) ထို("ဂျဟန္နမ်") ငရဲမီးမှ ထွက်ကြရမည့်သူများမဟုတ်ပေ။ အမှန်စင်စစ်သော်ကား ၎င်းတို့ အဘို့ အမြဲတည်တံ့သောပြစ်ဒဏ်သည် (အဆင့်သင့်) ရှိနေလေသတည်း။

وَالسَّارِقُ وَالسَّارِقَةُ فَاقْطَعُوا أَيْدِيَهُمَا جَزَاءً بِمَا كَسَبَا نَكَالًا مِّنَ اللَّهِ ۗ وَاللَّهُ

၃၈။ ၎င်းအပြင် (အို-တရားသူကြီးအပေါင်းတို့) ခိုးသူ ယောကျ်ားပင် ဖြစ်စေ၊ ခိုးသူ မိန်းမပင် ဖြစ်စေ၊ အသင်တို့သည် ၎င်းတို့နှစ်ဦးလုံး၏ လက်များကို ဖြတ်တောက်ကြလေကုန်။ [2]

---

(၁) အမိုက်ခေတ်ရှိလူများ၏ အယူအဆ မှားယွင်းချက်များအနက် မှားယွင်းချက်တရပ်မှာ ၎င်းတို့သည် နောင်တမလွန်ဘဝ၏ အရေးများကို ပစ္စုပ္ပန်၏ အရေးများနှင့် နှိုင်းယှဉ်ကာ လူလောကရှိ တရားရုံးများတွင် ဥစ္စာတန်ဆိုး လက်ဆောင်ထိုး၍ မှုပြစ်ကြီးငယ်တို့မှ လွတ်မြောက်အောင် ပြုလုပ်နိုင်ကြသကဲ့သို့ နောင်တမလွန်ဘဝတွင်လည်း ဥစ္စာတန်ဆိုးလက်ဆောင်ထိုး၍ မှုပြစ်ကြီးငယ်တို့မှ လွတ်မြောက်နိုင်ကြလိမ့်မည်ဟု မှတ်ထင်ခဲ့ကြ၏။ ယင်းသူတို့၏ အယူအဆမှားယွင်းကြောင်းကို ဤမုကဒ္ဒပါဠ်တော်တွင် မိန့်ဆိုထားတော်မူသည်။ ကြည့်-မာဂျိဒီ။

عَزِيزٌ حَكِيمٌ ﴿٣٨﴾

(ဤသည်) ထိုသူတို့နှစ်ဦး ပြုမူခဲ့ကြသော ပြုမူချက်၏ ပြစ်ဒဏ်လည်းဖြစ်၏။ အလ္လာဟ် အရှင်မြတ် အထံတော်မှ (အခြားသူများ) သတိ သံဝေဂရစေရန် ဆုံးမချက်တရပ်လည်း ဖြစ်၏။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် တန်ခိုး အာနုဘော်နှင့် ပြည့်စုံတော်မူသောအရှင်၊ ဉာဏ် အမြော်အမြင်နှင့် ပြည့်စုံတော်မူသော အရှင်မြတ် ပင်တည်း။

---

## ⑵ **ဓမ္မသတ်**။

ခိုးမှုကျူးလွန်သည့်အတွက် ပြစ်ဒဏ်ပေးနိုင်ရေးနှင့် စပ်လျဉ်း၍ ဓမ္မသတ်ရှင်များသည် ကုရ်အာန်နှင့် ဇွန္နတ်ကို ကိုးကားကာ စည်းကမ်းချက်အမျိုးမျိုး သတ်မှတ်ထားကြသည်။ ဟနဖီဓမ္မသတ်ရှင်များ သတ်မှတ်ထားကြသော စည်းကမ်းချက်တို့၏ အချုပ်မှာ အောက်ပါအတိုင်းဖြစ်သည်-။

(၁) ခိုးသူသည် အသိဉာဏ်ရှိသူ၊ အရွယ်ရောက်သူဖြစ်ရမည်။ ကလေးနှင့် ရူးသွတ် နေသူများသည်၊ ၎င်းတို့၏ခိုးဝှက်မှုကြောင့် လက်ဖြတ်ပြစ်ဒဏ်ပေးခြင်းခံကြရမည်မဟုတ်ပေ။

(၂) ခိုးသူသည် ပစ္စည်းကို လျှို့ဝှက်ယူသွားသည်ဖြစ်ရမည်၊ ဖြောင်လုယက် တိုက်ခိုက်ယူသည် မဖြစ်စေရ။ အဘယ်ကြောင့်ဆိုသော် လုယက်တိုက်ခိုက်သူ၏ ပြစ်ဒဏ်မှာ ခိုးမှုပြစ်ဒဏ်နှင့် မတူချေ၊ သီးခြားရှိသည်။

(၃) ခိုးရာပါပစ္စည်းသည်၊ တဦးတယောက်ပိုင်ဆိုင်သော ပစ္စည်းဖြစ်ရမည်။ ပိုင်ရှင်မဲ့ ပစ္စည်းကို ခိုးယူခြင်းသည် ဥပမာ-ကဖန်ပိတ်ကို ခိုးယူခြင်းသည် ခိုးမှုပြစ်ဒဏ်ပေးရမည့် ခိုးမှုမျိုးတွင် အကျုံးမဝင်ပေ။

(၄) ခိုးရာပါပစ္စည်းသည် ခိုးသူ၏ပစ္စည်းနှင့် တနည်းတဖုံ ဆက်စပ် ရောနှောနေသော ပစ္စည်းမဖြစ်စေရ။ လင်ယောကျ်ား၊ ဇနီးမိန်းမ၊ သားသမီးစသည်တို့သည် တဦး၏ပစ္စည်းကို တဦးက ခိုးဝှက်သည့်အတွက် ခိုးမှုပြစ်ဒဏ် ခံကြရမည်မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် ၎င်းတို့၏ ပစ္စည်းများသည် ဖက်စပ် ရောနှောနေလေ့ ရှိတတ်သောကြောင့်ပင်။

(၅) ခိုးရာပါပစ္စည်းများသည် တနည်းတဖုံအားဖြင့် ထိန်းသိမ်းကာကွယ် စောင့်ရှောက် ထားသော ပစ္စည်းဖြစ်ရမည်။ ဥပမာ-စစ်သား၊ ပုလိပ်၊ ဒရ်ဝါန်စသည်တို့၏ စောင့်ရှောက်မှု၌ ထားရှိသော ပစ္စည်းသော်၎င်း၊ သို့တည်းမဟုတ် တိုက်တာအိမ်ဂေဟာ၏ အတွင်း၌ထားရှိသော ပစ္စည်း သော်၎င်း၊ သေတ္တာ၌သော်၎င်း၊ အိမ်တွင်း၌သော်၎င်း၊ ထားရှိသောပစ္စည်းမျိုးဖြစ်ရမည်။ လမ်းပေါ်၌ ဖရိုဖရဲကျနေသော ပစ္စည်းတစုံတရာကို ကောက်ယူသည့်အတွက် ခိုးမှုပြစ်ဒဏ်ခံရမည် မဟုတ်ပေ။

အစောင့်အကြပ်များ၊ ဒရ်ဝါန်များသည် မိမိတို့စောင့်ရှောက်နေသော ပစ္စည်းများကို ခိုးဝှက်ကြလျှင် ၎င်းတို့အပေါ်၌ အလွဲသုံးစားပြုခြင်း၏ ပြစ်ဒဏ်ကို ခံစားကြရမည်။ ခိုးမှုပြစ်ဒဏ်ကို ခံစားရမည်မဟုတ်ပေ။ ကြည့်-မာဂျိဒီ၊ အစောင်-၂၊ စာမျက်နှာ- ၂၅၂၊ အောက်ခြေအမှတ် -(၁၃၅)။

فَمَنْ تَابَ مِنْ بَعْدِ ظُلْمِهٖ وَاَصْلَحَ فَاِنَّ اللّٰهَ يَتُوْبُ عَلَيْهِ ؕ اِنَّ اللّٰهَ غَفُوْرٌ رَّحِيْمٌ ﴿٣٩﴾

၃၉။ တဖန် မည်သူမဆို မိမိ ပြစ်မှုကျူးလွန်ပြီး
သည့်နောက် (သတိသံဝေဂ နောင်တတရား ရရှိ
ကာ အလ္လာဟ် အရှင်မြတ် အထံတော်၌) ဝန်ချ
တောင်းပန်ပြီး (မိမိကိုယ်ကို မိမိ) ပြုပြင်ခဲ့ပါ။
မလွဲဧကန် အလ္လာဟ် အရှင်မြတ်သည် ထိုသူ၏
*ဖက်သို့ ကရုဏာတော်နှင့် ပြန်လှည့်တော်မူအံ့။* [၁]
အလ္လာဟ် အရှင်မြတ်သည် စင်စစ်ဧကန် အလွန်
တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသော
အရှင်၊ အလွန်တရာ သနားကြင်နာညှာတာတော်
မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

اَلَمْ تَعْلَمْ اَنَّ اللّٰهَ لَهٗ مُلْكُ السَّمٰوٰتِ وَالْاَرْضِ ؕ يُعَذِّبُ مَنْ يَّشَآءُ وَيَغْفِرُ لِمَنْ يَّشَآءُ ؕ وَاللّٰهُ عَلٰى كُلِّ شَىْءٍ قَدِيْرٌ ﴿٤٠﴾

၄၀။ ဧကန်စင်စစ် မိုးကောင်းကင်များနှင့် ပထဝီ
မြေကိုစိုးမိုးအုပ်ချုပ်မှုအာဏာသည် အလ္လာဟ်အရှင်မြတ်
၌သာရှိသည်ကို အသင်သည် မသိလေသလော။ ထို
အရှင်သည် မိမိ အလိုရှိတော်မူသောသူအား ပြစ်ဒဏ်
ပေးတော်မူ၏။ ထိုနည်းတူစွာ မိမိ အလိုရှိတော်မူသော
သူအားချမ်းသာခွင့်ပေးသနားတော်မူ၏။ အမှန် သော်
ကားအလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်း
ဆောင်နိုင်တော်မူသောအရှင်မြတ်ပင်ဖြစ်တော်မူပေသတည်း။

---

(၁) ကုရ်အာန်ကျမ်းမြတ်(၅း၃၈)တွင် ခိုးသူ၏ ပြစ်ဒဏ်အကြောင်းပါရှိ၏။ ဤမုက္ခပါဌ်တော်တွင် ခိုးသူသည် ခိုးမှုကို ကျူးလွန်မိပြီးနောက် အကယ်၍ "တောင်ဗတ်" ဝန်ချတောင်း ပန်ပြီး မိမိကိုယ်ကို မိမိပြုပြင်သွားမည်ဆိုလျှင် အလ္လာဟ်အရှင်မြတ်သည် ထိုသူအပေါ်၌ ကရုဏာထားတော်မူမည့်အကြောင်းပါရှိ၏။

သူခိုး၏ "တောင်ဗဟ်" ဝန်ချတောင်းပန်မှုသည် 'ရှရီအတ်' တရားနှင့်ညီရပေမည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ "ဖုကဟာ"ဓမ္မသတ်ရှင်များက သူခိုးသည် မိမိခိုးယူထားသော ပစ္စည်းကို သက်ဆိုင်ရာပိုင်ရှင်ထံသို့ ပြန်ပေးရမည်။ အကယ်၍ ခိုးထားသောပစ္စည်းသည် ပျက်စီးသွားပါလျှင် သက်ဆိုင်ရာပိုင်ရှင်အား လျော်ကြေး ပေးရမည်။ လျော်ကြေးမပေးနိုင်ပါလျှင် မိမိအားခွင့်လွှတ်ရန် ပိုင်ရှင်ထံ မေတ္တာရပ်ခံရမည်ဟု ဆိုကြ၏။ ဤသည်ကား "တောင်ဗဟ်" ဝန်ချ တောင်းပန်ခြင်း၌ ပြည့်စုံခြင်း စည်းကမ်းချက်များပင်တည်း။

သူခိုးသည် ဝန်ချတောင်းပန်ခြင်းဖြင့် (အစိုးရ၏) လက်ဖြတ်ခြင်းမှ ကင်းလွတ်မည် မဟုတ်ပေ။ လက်ဖြတ်မှု အပြစ်ဒဏ်သည် ဝန်ချတောင်းပန် သည့်အတွက် သူခိုးအပေါ်မှ ကင်းစင်သွားမည် မဟုတ်ပေ။ ဤကား အများပညာရှင်တို့၏ အဆိုတည်း။ (မအာလင်မ်)

يَٰٓأَيُّهَا ٱلرَّسُولُ لَا
يَحْزُنكَ ٱلَّذِينَ يُسَٰرِعُونَ
فِى ٱلْكُفْرِ مِنَ ٱلَّذِينَ قَالُوٓا۟
ءَامَنَّا بِأَفْوَٰهِهِمْ وَلَمْ تُؤْمِن
قُلُوبُهُمْ ۛ وَمِنَ ٱلَّذِينَ
هَادُوا۟ ۛ سَمَّٰعُونَ لِلْكَذِبِ
سَمَّٰعُونَ لِقَوْمٍ ءَاخَرِينَ لَمْ
يَأْتُوكَ ۖ يُحَرِّفُونَ ٱلْكَلِمَ
مِنۢ بَعْدِ مَوَاضِعِهِۦ ۖ
يَقُولُونَ إِنْ أُوتِيتُمْ هَٰذَا
فَخُذُوهُ وَإِن لَّمْ تُؤْتَوْهُ

၄၁။ အို-ရဆူလ်တမန်တော်၊ အကြင်သူတို့သည် အသင့်အား *စိတ်နှလုံးမချမ်းမမြေ့မဖြစ်စေကြရ*။ ၁ ထိုသူတို့သည် ၎င်းတို့၏ စိတ်နှလုံးများက "အီမာန်" သက်ဝင်ယုံကြည်ခြင်း မရှိဘဲ မိမိတို့၏ နှုတ်များဖြင့်သာ ကျွန်ုပ်တို့သည် သက်ဝင်ယုံကြည် ကြပါပြီဟု ပြောဆိုသူတို့ အနက်မှပင်ဖြစ်စေ၊ ယဟူဒီများအနက်မှပင်ဖြစ်စေ၊ ထိုထိုသောသူတို့သည် မုသားကို အလွန်တရာ ကြားနာသူများ၊ အသင့်ထံမလာကြသောသူတို့အတို့ (အသင့်ထံလာရောက်၍) နားစွင့်သူများ ဖြစ်ကြကုန်၏။

၎င်းတို့သည် မုက္ခပါဠ်တော်များကို ထိုမုက္ခပါဠ်တော်များ၏ မူရင်းနေရာများမှ ရွေ့ပြောင်းလေ့ရှိကြသည့်ပြင် (မိမိတို့အုပ်စုဝင်များအား) အသင်တို့သည် (နဗီတမန်တော် မုဟမ္မဒ်၏ထံမှ) ဤ (ရွေ့ပြောင်း ထားသည့်)အတိုင်း အမိန့်ရရှိကြပါမူ နာယူလက်ခံကြလေကုန်၊ သို့ရာတွင် ထို(ရွေ့ပြောင်း ထားသည့်)အတိုင်း မရရှိကြလျှင် ဖယ်ရှောင်ကြလေကုန်ဟူ၍လည်း ပြောဆိုလေ့ရှိကြကုန်၏။

---

(၁) အထက်တွင် ဆူပူသောင်းကျန်မှု၊ ခိုးမှုများ၏ အပြစ်ဒဏ်များပါရှိခဲ့၏။ ဤမုက္ခပါဠ်တော်တွင် အလ္လာဟ်အရှင်မြတ်၏ စီရင်ချက်များကို ဖေါက်လွဲဖေါက်ပြန်ပြုလုပ်၍ မိမိတို့ကိုယ်ကို မိမိတို့ကိုယ်တိုင်ပင် ကြီးလေးသော အပြစ်ဒဏ်သင့်အောင် ပြုလုပ်သော အချို့အမျိုးသားများ၏ အကြောင်းကို မိန့်ဆိုထားတော်မူ၏။ ထိုအမျိုးသားများ၏ ဖြစ်အင်တရပ်ကို ဗဃဝီသခင်က အောက်ပါအတိုင်း ရေးသားဖေါ်ပြထားလေသည်။

'ခိုင်ဗရ်'ရှိ ယဟူဒီ ယောကျ်ား တယောက်နှင့် မိန်းမ တယောက်တို့သည် ကာမေသုမိစ္ဆာစာရကံကို ကျူးလွန်ကြ၏။ ထိုသူနှစ်ယောက်သည် လူပျို၊ အပျိုများလည်း မဟုတ်ကြပေ။ 'တောင်ရာတ်' ကျမ်းတွင် မိစ္ဆာစာရကံ ကျူးလွန်ခြင်း၏အပြစ်မှာ 'ရဂျမ်' ခဲဖြင့် ပေါက်သတ်ခြင်းပင်ဖြစ်၏။ (ကာမေသုမိစ္ဆာစာရကံ ကျူးလွန်သော အဆိုပါမိန်းမနှင့် ယောကျ်ားမှာ မျက်နှာကြီးများ ဖြစ်နေသဖြင့် ၎င်းတို့နှစ်ဦးကို ခဲဖြင့် ပေါက်သတ်ခြင်း ပြစ်ဒဏ်ပေးရန် အရေးမှာ သက်ဆိုင်ရာ အကြီးအကဲတို့အဖို့ ခဲယဉ်းနေတော့၏)။ မျက်နှာကြီးမှုသည် ခဲပေါက်သတ်ခြင်း ပြစ်ဒဏ်ကို တားဆီးလျက်ရှိ၏။ ထိုအခါ သက်ဆိုင်ရာ အကြီးအကဲတို့သည် ယင်းကိစ္စနှင့်စပ်လျဉ်း၍ အချင်းချင်း ဤသို့တိုင်ပင် ဆွေးနွေးကြ၏။ ➢➢

➤➤ 'ယသ်ရိဗ်' (မဒီနာ)မြို့တွင် ပုဂ္ဂိုလ်တဦး(တမန်တော်(မုဟမ္မဒ်)ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ရှိသည်၊ ၎င်း၏ကျမ်းဂန်တွင် ကာမေသုမိစ္ဆာစာရက် ကျူးလွန်သူ၏အပြစ်မှာ 'ရဂျ်မ်' ခဲပေါက်သတ်ခြင်းဟူ၍ မပါရှိ၊ ကြိမ်ဒဏ်ပေးခြင်းသာ ပါရှိ၏။ သို့ဖြစ်ရာ ဗနီကုရိုင်ဇွာဟ်မျိုးနွယ်မှ အချို့ပုဂ္ဂိုလ်များကို ၎င်းထံသို့စေလွှတ်၍ ၎င်း၏သဘောကို စုံစမ်းကြရမည်။ ဗနီကုရိုင်ဇွာဟ် မျိုးနွယ်သည် ၎င်းနှင့်အိမ်နီးချင်းလည်းဖြစ်၏။ ၎င်းနှင့် ငြိမ်းချမ်းရေးစာချုပ်လည်း ချုပ်ဆိုထား၏။ ယင်းသို့တိုင်ပင် ဆွေးနွေးကြပြီးနောက် ကာမေသုမိစ္ဆာစာရက် ကျူးလွန်သူနှင့်စပ်လျဉ်း၍ တမန်တော်မြတ်သည် မည်သို့ပြစ်ဒဏ်သတ်မှတ်သည်ကို သွားရောက်မေးမြန်းရန်အတွက် (ကုရိုင်ဇွာဟ်မျိုးနွယ်မှ) လူအချို့ကို တမန်တော်မြတ်ထံသို့ စေလွှတ်ကြလေ၏။ မိမိတို့စေလွှတ်လိုက်သော သူများအား အကယ်၍ တမန်တော်မြတ်သည် ကြိမ်ဒဏ်ရိုက်ရန် အမိန့်ပေးလျှင် အသင်တို့လက်ခံကြ၊ အကယ်၍ ခဲပေါက် သတ်ဒဏ်ပေးလျှင် လက်မခံကြနှင့်ဟုလည်း ပြောဆိုမှာကြားလိုက်ကြ၏။

စေလွှတ်ခြင်းခံရသော ပုဂ္ဂိုလ်များသည် တမန်တော်မြတ်ထံရောက်၍ ကာမေသုမိစ္ဆာစာရက် ကျူးလွန်သူ၏ပြစ်ဒဏ်ကို မေးမြန်းကြသောအခါ တမန်တော်မြတ်က အသင်တို့သည် ကျွန်ုပ်၏ အဆုံးအဖြတ်ကို နာခံကြမည်လောဟု မေးတော်မူသောအခါ ထိုပုဂ္ဂိုလ်များက ကျွန်တော်တို့နာခံကြပါမည်ဟု ဝန်ခံပြောဆိုကြလေသည်။ (ထိုအချိန်မှာပင်) အလ္လာဟ်အရှင်မြတ်၏ထံတော်မှ အပါးတော်စေတမန် ဂျိဗ်ရီလ်သည် ခဲပေါက် သတ်ခြင်း အမိန့်တော်ကို ယူဆောင်လာလေ၏။ ထိုအမိန့်တော်ကို ကြားကြသောအခါ ထိုပုဂ္ဂိုလ်များသည် မိမိတို့၏ ဝန်ခံချက်ကို ဖေါက်ဖျက်သွားကြလေ၏။

နောက်ဆုံးတွင် တမန်တော်မြတ်က ဖိဒတ်က်တွင်နေထိုင်သူ အိဗ်နုဆွူရိယာသည် အသင်တို့တွင် မည်သို့သော ပုဂ္ဂိုလ်ဖြစ်သနည်းဟု ၎င်းတို့အား မေးတော်မူသောအခါ ၎င်းတို့က ယခုအချိန် ကမ္ဘာမြေပြင်တွင် တမန်တော်မူစာ၏ ရှရီအတ် တရားဓမ္မသတ်ကို ထိုပုဂ္ဂိုလ်ထက် ပိုမို၍ သိသူတဦးမျှမရှိပါဟု ဖြေကြား၏။ ထိုအချိန်တွင် တမန်တော်မြတ်သည် အိဗ်နုဆွူရိယာအား ခေါ်ခိုင်းတော်မူ၍ ၎င်းအား လေးလေးနက်နက် ကျမ်းသစ္စာဆိုစေပြီး တောင်ရာတ်ကျမ်းဂန်တွင် ကာမေသုမိစ္ဆာစာရက် ကျူးလွန်ခြင်း၏အပြစ်သည် မည်သို့ ပါရှိသနည်း ဟု မေးတော်မူလေ၏။ ထိုအချိန်တွင် တခြားယဟူဒီများသည် ကာမေသုမိစ္ဆာစာရက်နှင့် စပ်လျဉ်း၍ တောင်ရာတ် ကျမ်းချက်ကို ထိမ်ဝှက်ရန် အထူးကြိုးပမ်းလျက် ရှိကြ၏။ ၎င်းတို့၏ ထိမ်ဝှက်မှုသည်လည်း သာဝကကြီး အဗ်ဒုလ္လာဟ် အိဗ်နုစလာမ်၏ ဖွင့်ဟပြောဆိုခြင်းကြောင့် ထင်ရှားခဲ့ပြီးဖြစ်၏။ အိဗ်နုဆွူရိယာသည် ယဟူဒီများ၏ယုံကြည်အားထားရာ ပုဂ္ဂိုလ်ကြီးဖြစ်လင့်ကစား အကြောင်းတရပ်ရပ်ကြောင့် တောင်ရာတ်ကျမ်းဂန်တွင် ကာမေသုမိစ္ဆာစာရက် ကျူးလွန်ခြင်း၏ အပြစ်မှာ 'ရဂျ်မ်' ခဲပေါက်သတ်ခြင်းပင်ဖြစ်ကြောင်း ဝန်ခံပြောဆိုလေ၏။ ၎င်းနောက် အိဗ်နုဆွူရိယာကပင် ဆက်လက်၍ "ယဟူဒီများသည် အဆိုပါ ပြစ်ဒဏ်ကို ပယ်ဖျက်၍ ကြိမ်ဒဏ် ရိုက်ခြင်း၊ မျက်နှာအိုးမဲသုတ်၍ မြည်းပေါ်တွင် နောက်ပြန်ထိုင်စေပြီး မြို့ရွာတွင် လှည့်ပတ်စေခြင်း ပြုလုပ်ကြသည့် အကြောင်းကိုလည်း" အကျယ်တဝင့် ရှင်းလင်းဖော်ပြလေသည်။

နောက်ဆုံးတွင် တမန်တော်မြတ်သည် ကာမေသုမိစ္ဆာစာရက် ကျူးလွန်သော ထိုယဟူဒီယောကျာ်းနှင့် မိန်းမ ၂-ယောက်တို့အပေါ်တွင် ခဲပေါက်သတ်ဒဏ် စီရင်ရန် အမိန့်ချမှတ်တော်မူလိုက်၏။ ၎င်းနောက် တမန်တော်မြတ်သည် အလ္လာဟ် အရှင်မြတ်ထံတော်တွင် "အို-အလ္လာဟ် အရှင်မြတ်၊ ထိုသူများက ကိုယ်တော် အရှင်မြတ်၏ အမိန့်တော်ကို ဖျောက်ထားကြပြီး နောက်ပိုင်းတွင် ဤလောက၌ ကိုယ်တော်အရှင်မြတ်၏ အမိန့်တော်ကို ပြန်၍ထုတ်ဖော်သူမှာ ကျွန်တော်မျိုးသည် ပဌမပင်ဖြစ်ပါသည်" ဟုလျှောက်ထားလေ၏။ ဤကား အဖြစ်အပျက်အမှန်တည်း။

فَاحۡذَرُوۡا ؕ وَمَنۡ یُّرِدِ اللّٰہُ فِتۡنَتَہٗ فَلَنۡ تَمۡلِکَ لَہٗ مِنَ اللّٰہِ شَیۡـًٔا ؕ اُولٰٓئِکَ الَّذِیۡنَ لَمۡ یُرِدِ اللّٰہُ اَنۡ یُّطَہِّرَ قُلُوۡبَہُمۡ ؕ لَہُمۡ فِی الدُّنۡیَا خِزۡیٌ ۚۖ وَّلَہُمۡ فِی الۡاٰخِرَۃِ عَذَابٌ عَظِیۡمٌ ﴿۴۱﴾

အမှန် စင်စစ်သော်ကား မည်သူ့ကိုမဆို အလ္လာဟ် အရှင်မြတ်သည် လမ်းလွဲစေတော်မူပါလျှင်၊ အသင်သည် အလ္လာဟ် အရှင်မြတ်နှင့် ဆန့်ကျင်၍ ထိုသူအား မည်သည့်အကျိုးကိုမျှ ပြုစွမ်းနိုင်ခြင်း အလျင်း မရှိပေ။

ဤသူတို့ကား အကြင် သူများတည်း။ အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့၏ စိတ်နှလုံးများကို သန့်ရှင်းစင်ကြယ်စေရန် ရည်ရွယ်တော်မူခဲ့သည် မဟုတ်ပေ။ ၎င်းတို့၌(ဤပစ္စုပ္ပန်) လောကီဘဝတွင်လည်း ကျိုးယုတ်ရှက်ရ ဖြစ်ခြင်းသည်ရှိ၏။ နောင်တမလွန်ဘဝတွင်လည်း ၎င်းတို့၌ ကြီးလေးလှစွာသော ပြစ်ဒဏ်သည်ရှိချေအံ့သတည်း။

**(တနည်း) . . .**

အို-ရစူလ်၊ 'ကုဖ်ရ်' သွေဖည်ငြင်းပယ်မှု၌ ပြေးလွှားကျဆင်းလျက်ရှိသော အကြင်သူများသည် အသင့်အား စိတ်ဒုက္ခမရောက်စေကြရ၊ (အသင်သည် ထိုသူတို့၏ သွေဖည်မှုများကြောင့် ပူပန်သောက မဖြစ်လေနှင့်)။ (ကုဖ်ရ် သွေဖည်မှု၌ ပြေးလွှားကျဆင်းလျက်ရှိသော) ထိုသူများသည် အကြင်သူတို့အနက်မှဖြစ်စေ၊ ၎င်းတို့သည်ကျွန်ုပ်တို့ အီမာန်ယုံကြည်ကြပါသည်ဟု မိမိတို့၏ နှုတ်များဖြင့် ပြောဆိုကြ၏။ အမှန်မှာ ၎င်းတို့၏စိတ်နှလုံးများသည် အီမာန်ယုံကြည်ကြသည်မရှိချေ။ (ကုဖ်ရ်၌ ပြေးလွှားကျဆင်းလျက်ရှိသော) ထိုသူများသည် အကြင်သူတို့အနက်မှဖြစ်စေ ၎င်းတို့သည်ယဟူဒီဖြစ်ကြ၏။--

سَمّٰعُونَ لِلْكَذِبِ أَكّٰلُونَ
لِلسُّحْتِ ۚ فَإِن جَآءُوكَ فَاحْكُم
بَيْنَهُمْ أَوْ أَعْرِضْ عَنْهُمْ ۖ
وَإِن تُعْرِضْ عَنْهُمْ فَلَن
يَضُرُّوكَ شَيْـًٔا ۖ وَإِنْ حَكَمْتَ
فَاحْكُم بَيْنَهُم بِالْقِسْطِ ۚ إِنَّ
اللَّهَ يُحِبُّ الْمُقْسِطِينَ ﴿٤٢﴾

၄၂။ ယင်း(ယဟူဒီ)တို့သည် မဟုတ်မမှန် မုသားကို အလွန်တရာမျှပင် နာယူလက်ခံသောသူများ၊ (အလ္လာဟ်အရှင်မြတ်က) "ဟရာမ်" (ဟူ၍ မြစ်တားထားတော်မူသော တန်စိုးလက်ဆောင်အစရှိသည်) ကို အလွန်တရာမျှ စားသုံးသူများပင် ဖြစ်ကြကုန်၏။ သို့ဖြစ်ပေရာ အကယ်၍ ထိုသူတို့သည် အသင်၏ထံသို့ (မိမိတို့၏ အမှုအခင်းများကို စီရင်ဆုံးဖြတ်စေခြင်းငှာ) လာရောက် ကြပါမူ၊ အသင်သည် ၎င်းတို့၏စပ်ကြား၌ (တရားစစ်ဆေး စီရင်လိုက) စစ်ဆေးစီရင်ပါလေ။ သို့တည်းမဟုတ် (တရားစီရင်စစ်ဆေးပိုင်ခွင့်မရှိဟူ၍) ၎င်းတို့ဘက်မှ မျက်နှာလွှဲဖယ်၍ နေပါလေ။ အကယ်၍ အသင်သည် ၎င်းတို့ဘက်မှ မျက်နှာလွှဲဖယ်ပါမူ၊ ၎င်းတို့သည် အသင့်အားလုံး၀ အကျိုးယုတ် နစ်နာစေနိုင်ကြမည်မဟုတ်ပေ။ သို့ရာတွင် အကယ်၍ အသင်သည် တရားစစ်ဆေးစီရင်သည်ရှိသော်၊ ၎င်းတို့၏စပ်ကြား၌ တရားမျှတစွာ စီရင်ဆုံးဖြတ်ပါလေ။ အကြောင်းသော်ကား အလ္လာဟ်အရှင်မြတ်သည် တရားမျှတသောသူတို့အား ချစ်ကြည်မြတ်နိုးတော်မူခြင်းကြောင့်ပင်တည်း။

وَكَيْفَ يُحَكِّمُونَكَ
وَعِندَهُمُ التَّوْرٰىةُ فِيهَا
حُكْمُ اللَّهِ ثُمَّ يَتَوَلَّوْنَ مِنۢ
بَعْدِ ذٰلِكَ ۚ وَمَآ أُولٰٓئِكَ
بِالْمُؤْمِنِينَ ﴿٤٣﴾

၄၃။ သို့ရာတွင် ထို သူတို့သည် အသင့်အား အဘယ်ကဲ့သို့ ခုံသမာဓိ တင်မြှောက်ကြပါသနည်း။ အမှန်စင်စစ်သော်ကား ၎င်းတို့ထံ၀ယ် "တောင်ရာတ်" ကျမ်းလည်းရှိ၏။ ယင်း တောင်ရာတ်ကျမ်းတွင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်လည်းပါရှိ၏။ တဖန် ထို(ကဲ့သို့အသင့်အား ခုံသမာဓိတင်မြှောက်ပြီး) နောက် ယင်းသူတို့သည် (အသင်၏တရားစစ်ဆေးစီရင်ချက်မှ) မျက်နှာလွှဲဖယ် သွားကြပြန်၏။

အမှန် စင်စစ်သော်ကား ၎င်းတို့သည် "မုအ်မင်န်" ယုံကြည်ခြင်း သဒ္ဓါတရားထားရှိသူများ အလျင်း မဟုတ်ကြချေ။

إِنَّآ أَنزَلْنَا ٱلتَّوْرَىٰةَ فِيهَا
هُدًى وَنُورٌ ۚ يَحْكُمُ بِهَا
ٱلنَّبِيُّونَ ٱلَّذِينَ أَسْلَمُوا۟
لِلَّذِينَ هَادُوا۟
وَٱلرَّبَّٰنِيُّونَ وَٱلْأَحْبَارُ بِمَا
ٱسْتُحْفِظُوا۟ مِن كِتَٰبِ
ٱللَّهِ وَكَانُوا۟ عَلَيْهِ شُهَدَآءَ ۚ
فَلَا تَخْشَوُا۟ ٱلنَّاسَ وَٱخْشَوْنِ
وَلَا تَشْتَرُوا۟ بِـَٔايَٰتِى ثَمَنًا
قَلِيلًا ۚ وَمَن لَّمْ يَحْكُم بِمَآ
أَنزَلَ ٱللَّهُ فَأُو۟لَٰٓئِكَ
هُمُ ٱلْكَٰفِرُونَ ﴿٤٤﴾

၄၄။ ဧကန်အမှန် ငါ အရှင်မြတ်သည် 'တောင်ရာတ်'ကျမ်းကို ချပေးသနားတော်မူခဲ့၏။ ယင်း "တောင်ရာတ်" ကျမ်းမြတ်တွင် တရားဓမ္မ ညွှန်ကြားခြင်းနှင့် ရောင်ခြည်တော်သည်ရှိ၏။ (အလ္လာဟ် အရှင်မြတ်၏) အမိန့်တော်များကို လိုက်နာကြကုန်သော နဗီတမန်တော်များသည် ယဟူဒီများအပေါ်၌ ယင်း"တောင်ရာတ်" ကျမ်းမြတ်နှင့်အညီ တရားစစ်ဆေး စီရင်လေ့ ရှိခဲ့ကြကုန်၏။ ထိုနည်းတူစွာ ယဟူဒီ ဘုန်းကြီးရဟန်းတို့နှင့် ပညာရှင်သုခမိန်တို့သည်လည်း) ယင်းတောင်ရာတ် ကျမ်းမြတ်နှင့်အညီ တရားစစ်ဆေး စီရင်လေ့ရှိခဲ့ကြကုန်သည်။ အကြောင်းသော်ကား ၎င်း(ဘုန်းကြီး ရဟန်းတို့နှင့်ပညာရှင်) တို့သည် အလ္လာဟ်အရှင်မြတ်၏ ကျမ်းတော်(နှင့် အညီ လိုက်နာ ကျင့်သုံးကြရန်)ကို ထိန်းသိမ်းစောင့်ရှောက်ရန် အမိန့်ပေးတော်မူခြင်း ခံခဲ့ကြရသည့်အပြင်၊ ၎င်းတို့သည် ထိုကျမ်းတော်ကို လိုက်နာကျင့်သုံးကြပါမည်ဟု ဝန်ခံသူများလည်း ဖြစ်ခဲ့ခြင်းကြောင့်ပင်။

သို့ဖြစ်ပေရာ (အို-ယဟူဒီ အကြီးအကဲ အပေါင်းတို့) အသင်တို့သည် လူတို့အား မကြောက်ရွံ့ကြလေနှင့်၊ ငါအရှင်မြတ်ကိုသာ ကြောက်ရွံ့ကြလေကုန်၊ ၎င်းပြင် အသင်တို့သည် ငါအရှင်မြတ်၏ မုက္ခပါဌ်တော်များကို အနည်းငယ်မျှသော အဖိုးအခ ကြေးငွေဖြင့် ရောင်းစားခြင်း မပြုကြကုန်လင့်။

ငင်းပြင် မည်သူမဆို အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ်တော်မူသည့် (အမိန့်တော်)အတိုင်း တရားစစ်ဆေး စီရင်ဆုံးဖြတ်ခြင်းကို မပြုခဲ့မူ၊ ထိုကဲ့သို့သော သူများသည် "ကာဖိရ်" သွေဖည် ငြင်းပယ်သောသူများပင် ဖြစ်ကြပေသတည်း။

**၄၅။** ငင်းပြင် ငါအရှင်မြတ်သည် ထို "တောင်ရာတ်" ကျမ်းမြတ်တွင် ယင်းယဟူဒီတို့အပေါ်၌ အသက်ဇီဝိန်၏ အစား အသက်ဇီဝိန်ဟူ၍ငင်း၊ မျက်စိ၏အစား မျက်စိဟူ၍ငင်း၊ နှာခေါင်း၏အစား နှာခေါင်းဟူ၍ငင်း၊ နား‌ရွက်အစား နားရွက်ဟူ၍ငင်း၊ သွား၏အစား သွားဟူ၍ငင်း၊ (အချို့) ဒဏ်ရာဒဏ်ချက်များ၌လည်း (ထပ်တူထပ်မျှ) လက်စားချေခြင်းပင် ရှိသည်ဟူ၍ငင်း၊ အမိန့်တော်ချမှတ်ပြဋ္ဌာန်းတော်မူခဲ့လေသည်။ တဖန် အကြင်သူသည် ယင်းလက်စားချေခြင်းကို ခွင့်လွှတ်ခဲ့လျှင် ထို(ကဲ့သို့) ခွင့်လွှတ်ခြင်းသည်ငင်း၊ (ခွင့်လွှတ်သူ)၏ အကုသိုလ်အပြစ်များမှ လွတ်ကင်းရန်အကြောင်းပင် ဖြစ်ချေသည်။ ငင်းပြင် မည်သူမဆို အလ္လာဟ်အရှင်မြတ် ချမှတ်တော်မူသည့်(အမိန့်တော်)အတိုင်း တရားစစ်ဆေး ဆုံးဖြတ်ခြင်းကိုမပြုခဲ့ပါလျှင် ထိုကဲ့သို့သော သူများပင် ကျူးလွန်သောသူများ ဖြစ်ကြကုန်သတည်း။

وَكَتَبْنَا عَلَيْهِمْ فِيهَا أَنَّ النَّفْسَ بِالنَّفْسِ وَالْعَيْنَ بِالْعَيْنِ وَالْأَنفَ بِالْأَنفِ وَالْأُذُنَ بِالْأُذُنِ وَالسِّنَّ بِالسِّنِّ وَالْجُرُوحَ قِصَاصٌ ۚ فَمَن تَصَدَّقَ بِهِ فَهُوَ كَفَّارَةٌ لَّهُ ۚ وَمَن لَّمْ يَحْكُم بِمَا أَنزَلَ اللَّهُ فَأُولَٰئِكَ هُمُ الظَّالِمُونَ ﴿٤٥﴾

**၄၆။** ငင်းပြင် ငါအရှင်မြတ်သည် (နဗီတမန်တော်)များ၏နောက်၌ ထိုနဗီတမန်တော်များ၏ လမ်းစဉ်ကို ဖဝါးခြေထပ် လိုက်နာကျင့်သုံးရန် အလို့ငှာ "မရ်ယမ်"၏သားတော် "အီစာ"အား ငင်း၏အလျှင်ရှိခဲ့သော "တောင်ရာတ်" ကျမ်းကို (အခိုင်အမာပြုသူ) ထောက်ခံသူအဖြစ်ဖြင့် စေလွှတ်တော်မူခဲ့၏။

وَقَفَّيْنَا عَلَىٰ آثَارِهِم بِعِيسَى ابْنِ مَرْيَمَ مُصَدِّقًا لِّمَا بَيْنَ يَدَيْهِ مِنَ التَّوْرَاةِ ۖ وَآتَيْنَاهُ

الْإِنْجِيلَ فِيهِ هُدًى وَنُورٌ وَمُصَدِّقًا لِمَا بَيْنَ يَدَيْهِ مِنَ التَّوْرَاةِ وَهُدًى وَمَوْعِظَةً لِلْمُتَّقِينَ ﴿٤٦﴾

ငှင်းပြင် ငါအရှင်သည် ထို(တမန်တော်အီစာ) အား "အင်န်ဂျီလ်" ကျမ်းကို ချီးမြှင့်တော်မူခဲ့၏။ ထိုကျမ်းတွင် တရားဓမ္မလည်းရှိ၏။ အလင်းရောင်လည်း ရှိ၏။ ထိုကျမ်းသည် မိမိအလျှင်ရှိသော "တောင်ရာတ်" ကျမ်းကို ထောက်ခံ (အခိုင်အမာပြု) လျက်ရှိသည့်ပြင် "မွတ္တကီ" သူတော်စင်များအဘို့ တရားဓမ္မ အဆုံးအမလည်း ဖြစ်၏။

وَلْيَحْكُمْ أَهْلُ الْإِنْجِيلِ بِمَا أَنْزَلَ اللَّهُ فِيهِ ۚ وَمَنْ لَمْ يَحْكُمْ بِمَا أَنْزَلَ اللَّهُ فَأُولَٰئِكَ هُمُ الْفَاسِقُونَ ﴿٤٧﴾

၄၇။ ထို့ပြင်တဝ "အင်န်ဂျီလ်" ကျမ်းတော်ကိုရရှိသောသူတို့သည်လည်း ယင်း "အင်န်ဂျီလ်" ကျမ်းတော်တွင် အလ္လာဟ်အရှင်မြတ်က ထုတ်ပြန် ချမှတ်တော်မူသည့်အတိုင်း စီရင်ကြရပေမည်။ စင်စစ် မည်သူမဆို အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ်တော် မူသည့် အမိန့်တော်အတိုင်း တရားစီရင်ဆုံးဖြတ်ခြင်း မပြုခဲ့သော်၊ ထိုကဲ့သို့သော သူများသည် အမိန့်တော်ကို ကျူးလွန်ဖေါက်ဖျက်သော သူများပင်တည်း။

وَأَنْزَلْنَا إِلَيْكَ الْكِتَابَ بِالْحَقِّ مُصَدِّقًا لِمَا بَيْنَ يَدَيْهِ مِنَ الْكِتَابِ وَمُهَيْمِنًا عَلَيْهِ ۖ فَاحْكُمْ بَيْنَهُمْ بِمَا أَنْزَلَ

၄၈။ ငှင်းပြင် (အို-နဗီတမန်တော်) ငါအရှင်မြတ်သည် အသင့်ထံသို့ မှန်ကန်သော ကျမ်းမြတ် (ကုရ်အာန်)ကို ထုတ်ပြန်ချမှတ်တော်မူခဲ့လေသည်။ (ယင်း ကုရ်အာန်ကျမ်းတော်မြတ်သည်) ငှင်း၏ *အလျှင်ရှိခဲ့သောကျမ်းများကို ထောက်ခံလျက်ရှိ၏။* [၁] ငှင်းပြင် ယင်းကျမ်းများကို ထိန်းသိမ်းစောင့်ရှောက်လျက်ရှိ၏။

(၁) "ကုရ်အာန်ကျမ်းသည် မိမိအလျှင်ရှိခဲ့သော တောင်ရာတ်၊ အင်န်ဂျီလ်၊ ဇဗူရ်အစရှိသည့် ကျမ်းဂန်များကို ထောက်ခံလျက်ရှိ၏။" ဟုမိန့်ဆိုထားတော်မူခြင်း၏ အလိုသဘောမှာ ထိုထိုသော ကျမ်းများသည်လည်း အလ္လာဟ်အရှင်မြတ် ထံတော်မှ ထုတ်ပြန်ချမှတ်ထားတော်မူသော ကျမ်းဂန်များဖြစ်ကြောင်းကို ထောက်ခံခြင်း ဖြစ်သည်ဟူ၏။

ဤကဲ့သို့ထောက်ခံခြင်းအားဖြင့် ထိုထိုသော ကျမ်းများတွင် အချို့သူများ၏ မှောက်လှန်ကပြောင်းကပြန် ပြုလုပ်မှုများကြောင့် ပါရှိနေသော မှားယွင်းမှုများကို ထောက်ခံရာ မရောက်ပေ။ ကြည့်-မာဂျိဒီ။

اللهُ وَلَا تَتَّبِعۡ أَهۡوَآءَهُمۡ
عَمَّا جَآءَكَ مِنَ ٱلۡحَقِّۚ لِكُلّٖ
جَعَلۡنَا مِنكُمۡ شِرۡعَةٗ وَمِنۡهَاجٗاۚ
وَلَوۡ شَآءَ ٱللَّهُ لَجَعَلَكُمۡ أُمَّةٗ
وَٰحِدَةٗ وَلَٰكِن لِّيَبۡلُوَكُمۡ
فِي مَآ ءَاتَىٰكُمۡۖ فَٱسۡتَبِقُواْ ٱلۡخَيۡرَٰتِۚ
إِلَى ٱللَّهِ مَرۡجِعُكُمۡ جَمِيعٗا فَيُنَبِّئُكُم
بِمَا كُنتُمۡ فِيهِ تَخۡتَلِفُونَ ﴿٤٨﴾

သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် ထိုသူတို့၏ စပ်ကြား၀ယ် အလ္လာဟ်အရှင်မြတ် ထုတ်ပြန် ချမှတ်တော်မူသည့် (တရားတော်)နှင့်အညီ စီရင်ဆုံးဖြတ်ပါလေ။ ၎င်းပြင် အသင်သည် မိမိထံ ရောက်ရှိလာသော မှန်ကန်သော ကျမ်းတို့ကိုစွန့်၍ ၎င်းတို့၏ အလိုဆန္ဒများကို မလိုက်လေနှင့်။ ငါ အရှင်မြတ်သည် အသင်တို့အနက် အသီးသီးတို့ အဘို့ တရားဓမ္မသတ် (နည်း၊ဥပဒေ) တမျိုးနှင့် ထင်ရှားလှစွာသော လမ်းစဉ်တမျိုးကို သတ်မှတ် ပြဋ္ဌာန်းပေးတော်မူခဲ့သည်။

အကယ်၍သာ အလ္လာဟ် အရှင်မြတ်သည် အလိုရှိတော် မူခဲ့ပါမူ အသင်တို့ (အားလုံး)ကို သာသနာ၀င်တမျိုးတည်း ဖြစ်စေတော် မူခဲ့မည်မှာ ဧကန်မလွဲပင်။ သို့ရာတွင် ထိုအရှင်မြတ်သည် မိမိ ပြဋ္ဌာန်း ပေးသနားတော်မူသည့် (တရား လမ်းစဉ်) နှင့်စပ်လျဉ်း၍ အသင်တို့အား စမ်းသပ်တော်မူခြင်းငှာ (ထိုကဲ့သို့ သာသနာ၀င်တမျိုးတည်း ဖြစ်စေတော် မမူခဲ့ချေ)။ သို့ဖြစ်ပေရာ အသင်တို့သည် ကောင်းမှု များကို သူ့ထက်ငါသာအောင် လျင်မြန်စွာ ပြုလုပ် ကြလေကုန်။

အသင်တို့ အားလုံးသည် အလ္လာဟ်အရှင် မြတ်အထံတော်သို့သာလျှင် ပြန်လည် ရောက်ရှိကြ မည် ဖြစ်ကုန်၏။ ထိုရောအခါ၀ယ်၊ ထိုအရှင်မြတ် သည် အသင်တို့ ကွဲလွဲခဲ့ကြကုန်သော အကြောင်း အချက်တို့နှင့် စပ်လျဉ်း၍ အသင်တို့အားအသိ ပေးတော်မူမည်ဖြစ်၏။

وَأَنِ احْكُم بَيْنَهُم بِمَا أَنزَلَ
اللَّهُ وَلَا تَتَّبِعْ أَهْوَاءَهُمْ
وَاحْذَرْهُمْ أَن يَفْتِنُوكَ عَن
بَعْضِ مَا أَنزَلَ اللَّهُ إِلَيْكَ ۖ
فَإِن تَوَلَّوْا فَاعْلَمْ أَنَّمَا يُرِيدُ
اللَّهُ أَن يُصِيبَهُم بِبَعْضِ
ذُنُوبِهِمْ ۗ وَإِنَّ كَثِيرًا مِّنَ
النَّاسِ لَفَاسِقُونَ ﴿٤٩﴾

၄၉။ ၎င်းပြင် (အို–နဗီတမန်တော်) အသင်သည် ထိုသူတို့၏ စပ်ကြားဝယ် အလ္လာဟ် အရှင်မြတ် ထုတ်ပြန် ချမှတ်တော်မူသည့် (တရားတော်) နှင့် အညီ တရားစီရင် ဆုံးဖြတ်ပါလေ။ ၎င်းပြင် အသင်သည် ထိုသူတို့၏ စိတ်အလိုဆန္ဒကို မလိုက်စားပါလေနှင့်။ ထိုမှတပါး အလ္လာဟ် အရှင်မြတ်က အသင့်ထံ ထုတ်ပြန်ချမှတ် ပေးသနားတော်မူသော အချို့ အမိန့်တော်များနှင့် စပ်လျဉ်း၍ ထိုသူတို့သည်အသင့်အား ချွတ်ချော်တိမ်းပါးစေမည်ကို အသင်သတိထားပါလေ။

ထို့နောက် အကယ်၍ ၎င်းတို့သည် (အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်များကို လိုက်နာခြင်းမရှိဘဲ) မျက်နှာလွှဲဖယ်သွားခဲ့ကြပါမူ၊ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ အချို့ပြစ်မှု ဒုစရိုက်များကြောင့် ယင်းသူတို့ကို (ပစ္စုပ္ပန် လောက၌ပင်) ပြစ်ဒဏ် ပေးလိုတော်မူကြောင်း အသင် ကောင်းစွာ မှတ်ယူပါလေ။ အမှန်စင်စစ်သော်ကား လူတို့အနက် များစွာသော လူတို့သည် (အလ္လာဟ် အရှင်မြတ်၏) စည်းကမ်းကို ဖေါက်ဖျက်ကျူးလွန်သူများပင် ဖြစ်ကြကုန်သတည်း။

أَفَحُكْمَ الْجَاهِلِيَّةِ يَبْغُونَ ۚ وَمَنْ
أَحْسَنُ مِنَ اللَّهِ حُكْمًا لِّقَوْمٍ
يُوقِنُونَ ﴿٥٠﴾

၅၀။ ပြီးနောက်ယင်းသူတို့သည် အမိုက်ခေတ်၏ [၁] စီရင်ဆုံးဖြတ်မှုကို လိုလားကြလေသလော။ အမှန်စင်စစ်သော်ကား ယုံကြည်မှုထားရှိသော အမျိုးသားတို့အဘို့ အလ္လာဟ်အရှင်မြတ်ထက် ပိုမိုကောင်းမွန်စွာ စီရင်ဆုံးဖြတ်မည့်သူကား အဘယ်သူနည်း။

(၁) 'ဂျာဟိလိယတ်' ဟူသည် ကုရ်အာန်ကျမ်းမြတ်၏ အသုံးအနှုန်းတွင် အစ္စလာမ်သာသနာ မထွန်းကားမီ "ရှစ်ရိက်" ၏ ခေတ်ကိုဆိုသည်။ "ဂျာလိဟိယတ်"သည် 'တောင်ဟီဒ်' နှင့် လုံးဝ ဆန့်ကျင်၏။ ➤➤

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ لَا تَتَّخِذُوا۟ ٱلْيَهُودَ وَٱلنَّصَٰرَىٰٓ أَوْلِيَآءَ ۘ بَعْضُهُمْ أَوْلِيَآءُ بَعْضٍ ۚ وَمَن يَتَوَلَّهُم مِّنكُمْ فَإِنَّهُۥ مِنْهُمْ ۗ إِنَّ ٱللَّهَ لَا يَهْدِى ٱلْقَوْمَ ٱلظَّٰلِمِينَ ﴿٥١﴾

၅၁။ အို- "မုအ်မင်န်" သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် ယဟူဒီတို့အားငှင်း၊ ခရစ်ယာန်တို့အားငှင်း၊ *မိတ်သဟာယ အဆွေခင်ပွန်းများ မပြုကြကုန်လင့်။* [၁] ငှင်း(ယဟူဒီနှင့်ခရစ်ယာန်)တို့သည် (အသင်တို့ကို ဆန့်ကျင်ရာတွင်) အချင်းချင်း တဦးကိုတဦး *ယိုင်းပင်းကူညီသော အဆွေခင်ပွန်းများပင် ဖြစ်ကြပေသည်။* [၂]

အမှန်သော်ကား အသင်တို့အနက် မည်သူမဆို ထိုသူတို့အား "ကလျာဏ" အဆွေခင်ပွန်း ပြုလုပ်သည်ရှိသော်၊ ထိုသူသည် ဧကန်မုချ ငှင်းတို့တွင် *(အပါအဝင်)ဖြစ်၏။* [၃] မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် မတရားကျူးလွန်သူတို့အား *တရားလမ်းမှန်သို့ ပို့ပေးတော်မူမည်မဟုတ်ပေ။* [၄]

---

➤➤ အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်ကို ဆန့်ကျင်၍ လူသားတို့ ပြုလုပ်ဖန်တီးထားသော ဥပဒေစည်းမျဉ်းအားလုံးသည် ဂျာဟိလိယတ်၏ ဥပဒေစည်းမျဉ်းတွင် အကျုံးဝင်၏။ ကြည့်-မာဂျိဒီ။

အလ္လာဟ်အရှင်မြတ်၏ အဆုံးအဖြတ်သည် မှန်ကန်၏။ မျှတ၏။ သမာသမတ်ဖြစ်၏။ ထိုအရှင်အမြတ်၏ အဆုံးဖြတ်ထက် ပိုမိုကောင်းမွန်သော အဆုံးအဖြတ်သည် အဘယ်သို့လျှင်ရှိနိုင်အံ့နည်း။ ထိုအရှင်မြတ်၏ အဆုံးအဖြတ်ထက် ပိုမိုကောင်းမွန်သော အဆုံးအဖြတ်ကိုထားဘိဦး တူညီသော အဆုံးအဖြတ်ပင်လျှင် အလျင်းမရှိပေ။ သို့ပါလျက် ယဟူဒီများနှင့် နဆွဲရာနီများသည် အလ္လာဟ်အရှင်မြတ်၏ အဆုံးအဖြတ်ကို သွေဖည်လျက်ရှိကြ၏။ ယင်းသို့သွေဖည်ခြင်းသည် ဂျာဟိလိယတ် ခေတ်၏အဆုံးအဖြတ်ကို လိုလားရာရောက်ပေသည်။ အမှန်ကိုသိပါလျက် အမှားကိုနှစ်ခြိုက်ခြင်း၊ အလင်းကိုကြဉ်၍ အမှောင်ရှိရာသို့ သွားခြင်းသည် မိုက်မဲမှုပင်ဖြစ်၏။ နှလုံးသားတွင် သံချေးတက်လျက်ရှိသော သူများ၏ အလုပ်သာလျှင်ဖြစ်၏။
(၁) ယဟူဒီများနှင့် နဆွဲရာနီများသည် ကျမ်းဂန်ရရှိသောသူများ ဖြစ်ကြသော်လည်း အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို သွေဖည်ငြင်းပယ်ခဲ့ကြ၏။ ပုန်ကန်ခဲ့ကြ၏။ ထိုသို့သော ယဟူဒီများနှင့် နဆွဲရာနီများကို မိတ်ဆွေမပြုကြရမည့်အကြောင်း ဤမုကဒ္ဒပါဌ်တော်တွင် မိန့်ဆိုထားတော်မူသည်။

"အောင်လိယာအ" ဟူသောပုဒ်သည် 'ဝလီယွန်' 'ဝလီ' ဟူသောပုဒ်၏ ဗဟုဝုစ်ကိန်းဖြစ်၏။ 'ဝလီ' ဟူသော ပုဒ်သည် အဆွေခင်ပွန်း၊ မိတ်ဆွေ၊ သားချင်း၊ ကူညီယိုင်းပင်းသူဟူသော အနက်များ၌ အသုံးဖြစ်၏။ ဤမုကဒ္ဒပါဌ်တော်တွင် မြစ်တားထားတော်မူသောအရာမှာ အဆွေခင်ပွန်း ပြုလုပ်ခြင်း၊ ချစ်ခင်မြတ်နိုးခြင်း ၊အထူးတလည် ရင်းနှီးခြင်းပင် ဖြစ်၏။သို့ရာတွင် တရားမျှတခြင်း ကောင်းစွာဆက်ဆံခြင်းသည် မွတ်စ်လင်မ်၊ ကာဖိရ်မဆိုထားဘိ လူသားတိုင်း၊ သတ္တဝါတိုင်း၊ သက်ရှိသက်မဲ့ အရာအားလုံးအပေါ်၌ ➤➤

فَتَرَى الَّذِينَ فِي قُلُوبِهِم مَّرَضٌ يُسَارِعُونَ فِيهِمْ يَقُولُونَ نَخْشَىٰ أَن تُصِيبَنَا دَائِرَةٌ ۚ فَعَسَى اللَّهُ

၅၂။ ထို့ကြောင့်ပင် အသင်သည် စိတ်နှလုံးများတွင် ဝေဒနာ စွဲကပ်လျက်ရှိသော သူတို့အား ထို(ယဟူဒီ နှင့် ခရစ်ယာန်) တို့ထံ အပြေးအလွှား သွားကြသည် ကို တွေ့မြင်ရလေသည်။ ထိုသူတို့က "ကျွန်ုပ်တို့သည် မိမိတို့၌ (မတော်တဆ) ဘေးဒုက္ခ အန္တရာယ်တစုံတရာ ဆိုက်ရောက် လာမည်ကို စိုးရိမ်ကြသည်" ဟု ပြောဆိုကြကုန်၏။ ၁

---

➤➤ ထားရှိရမည့် မုချတာဝန်ပင် ဖြစ်ပေသည်။ မွတ်စ်လင်မ်တို့သည် သင့်လျော်သည်ဟူ၍ ယူဆပါလျှင် "ရှရီအတ်" တရားဥပဒေနှင့်မဆန့်ကျင်ပါက ဆက်ဆံခြင်း၊ ဈေးစပ်ခြင်းများကို မည်သူနှင့်မဆို ပြုလုပ်နိုင်ကြပေသည်။ ကြည့်- မာဂျိဒီ။

ဤအကြောင်းနှင့်စပ်လျဉ်း၍ အွဆ်မာနီ၊ စာမျက်နှာ-၁၅၀၊ အောက်ခြေအမှတ်(၂-၅)တွင် အကျယ်တွေ့ရှိနိုင်ပေသည်။

(၂) ယဟူဒီနှင့် နဆ္ဓရာနီများတွင် သာသနာအုပ်စုကွဲပြားမှု၊ မနာလိုမုန်းတီးမှုများ ရှိသော်လည်း ၎င်းတို့သည် အချင်းချင်း မိတ်ဆွေအဖြစ် ဆက်ဆံလျက်ရှိကြ၏။ မွတ်စ်လင်မ်တို့အား ဆန့်ကျင်ရာတွင်မူ ကာဖိရ်အားလုံးတို့သည် အချင်းချင်း မိတ်ဆွေပင်ဖြစ်ကြ၏။ အချင်းချင်း ယိုင်းပင်းကူညီကြ၏။ ဤသည်ကို ရည်ညွှန်း၍ တမန်တော်မြတ်က "ကုဖရ်သည် ဘာသာတခုတည်းပင်ဖြစ်၏" ဟုမိန့်ကြားတော်မူခဲ့၏။

(၃) မုစ်လင်များအနက် မည်သူမဆို ယဟူဒီ၊ နဆ္ဓရာနီများနှင့် အကျွမ်းတဝင် မိတ်ဆွေဖွဲ့လျှင် ထိုသူသည် ၎င်းတို့တွင် အပါအဝင်ဖြစ်သည်၊ ၎င်းတို့၏ တစိတ်တဒေသ ဖြစ်သည်ဟူ၍ ယူဆရမည်သာ ဖြစ်သည်။

(၄) အကြင်သူများသည် 'အစ္စလာမ်' ၏ရန်သူများနှင့် မိတ်ဆွေဖွဲ့၍ မိမိတို့ကိုယ်ကိုငှင်း ၊ မွတ်စ်လင်မ်များကိုငှင်း၊ ညှဉ်းပန်းနှိပ်စက်လျက်ရှိကြ၏။ အစ္စလာမ်၏ ရှုံးနိမ့်ရေးကို အထူးစောင့် မျှော်နေကြ၏။ ထိုမျှဆိုးသွမ်းသော သူများသည် အလ္လာဟ်အရှင်မြတ်၏ တရားလမ်းမှန်ကို အသို့လျှင် ရရှိနိုင်ကြအံ့နည်း။ ကြည့်-အွဆ်မာနီ။

(၁) မုနာဖစ်က်တို့သည် မွတ်စ်လင်မ်များနှင့် တွေ့ဆုံသောအခါ ပရိယာယ်မာယာဖြင့် "ကျွန်ုပ်တို့ထံ တစုံတရာ ဘေးအန္တရာယ် ဆိုက်ရောက်မည်ကို ကျွန်ုပ်တို့စိုးရိမ်ကြပါသည်" ဟု ပြောဆိုလေ့ရှိကြ၏။ လင်းပြဦးအံ့။

မဒီနာမြို့တွင် အဗ်ဒုလ္လာဟ်အီဗ်နုအုဗိုင်ယ် ခေါင်းဆောင်လျက်ရှိသော မုနာဖစ်က်တို့၏ အုပ်စုသည် အားအင်ကြီးမား၏။ ၎င်းတို့သည် ဥစ္စာဓန ချမ်းသာကြွယ်ဝသော ယဟူဒီ နဆ်ရာနီများနှင့် အရောင်းအဝယ် အပေးအယူ ပြုလုပ်လျက်ရှိကြ၏။ ၎င်းတို့သည် မွတ်စ်လင်မ်များနှင့် တွေ့ဆုံသည့်အခါ "နက်ဖြန်ခါ" ဘာဖြစ်မည်မသိ၊ အကယ်တန္တု ထိုယဟူဒီ၊ နဆ္ဓရာနီများသည် အသင်တို့ကို အောင်နိုင်သွားခဲ့ကြသည်ရှိသော် သို့တည်းမဟုတ် အသင်တို့ ကျွန်ုပ်တို့ထံ တစုံတရာဘေးအန္တရာယ် ကျရောက်ခဲ့သည်ရှိသော် ထိုသူများထံမှ အကူအညီမယူဘဲ အဘယ်တစုံတရာကိုမျှ ပြုလုပ်နိုင်ကြမည်မဟုတ်၊ ထို့အတွက်ကြောင့် ထိုသူများကို မုချ ပူးပေါင်းထားကြရပေမည်" ဟု ပရိယာယ်မာယာဖြင့် ပြောဆိုကြ၏။ ကြည့်- (မာဂျိဒီ။)

အထက်တွင် ဖော်ပြပါရှိသည့်အတိုင်း မုနာဖစ်က်တို့သည် ယဟူဒီ နဆ္ဓရာနီများနှင့် ပူးပေါင်းရသည့် အကြောင်းနှင့် စပ်လျဉ်း၍ စီးပွားရေးကို ထုတ်ဖော်ပြောဆိုလျက်ရှိကြ၏။ အမှန်မှာ ၎င်းတို့၏ ➤➤

أَنْ يَّأْتِيَ بِالْفَتْحِ أَوْ أَمْرٍ مِّنْ عِنْدِهٖ فَيُصْبِحُوْا عَلٰى مَآ أَسَرُّوْا فِيْٓ أَنْفُسِهِمْ نٰدِمِيْنَ ٥٢

သို့ရာတွင် အလ္လာဟ် အရှင်မြတ်သည် မကြာမြင့်မီ (မွတ်စ်လင်မ်တို့အား) ဖေယျ မင်္ဂလာ အောင်မြင်ခြင်း တရားကို ပေးသနားတော်မူအံ့။ သို့တည်းမဟုတ် အထူးအကြောင်း တရပ်ရပ်ကို (ဖြစ်စေတော်မူအံ့၊) ထိုအခါ ယင်းသူတို့သည် မိမိတို့စိတ်တွင်း၌ လျှို့ဝှက် ထိမ်ချန် ထားရှိခဲ့ကြသော အကြောင်းများနှင့်စပ်လျဉ်း၍ ဝမ်းနည်း ပူဆွေးကြရလတ္တံ့။ ၂

▶▶ အတွင်း သဘောကား အကယ်တန္တ ယဟူဒီ နဆ္ဖရာနီများသည် မွတ်စ်လင်မ်တို့အား အောင်နိုင်သွားခဲ့ကြသည်ရှိသော် ငါတို့သည် ၎င်းတို့အား မှီခိုအားထားကြရမည်ဖြစ်၏။ ယခုငင်းတို့နှင့် ပူးပေါင်းထားခြင်းသည် ထိုအချိန်တွင် အသုံးကျပေမည်ဟူ၍ဖြစ်၏။ ကြည့်-ထာနဝီ။

၂ အထက်တွင် ရေးသားဖော်ပြခဲ့သည့်အတိုင်း မုနာဖစ်က်တို့က မွတ်စ်လင်မ်များသည် မကြာမီအတွင်း အရေးနိမ့်ကြမည်၊ ယဟူဒီ နဆ္ဖရာနီများသည် အရေးသာကြမည်။ ယဟူဒီ နဆ္ဖရာနီများနှင့် ပူးပေါင်းထားခြင်းသည် အကျိုးရှိပေမည်ဟူ၍ တွေးထင်လျက်ရှိကြ၏။ ထိုသို့တွေးထင်လျက်ရှိသော မုနာဖစ်က်တို့၏ အတွေးအထင်သည် အိမ်မက်မျှဖြစ်ကြောင်း ၎င်းတို့အတွေးအထင်အတိုင်း လုံးဝဖြစ်မည်မဟုတ်ကြောင်း ဤမုကဒ္ဒပါဌ်တော်တွင် မိန့်ကြားထားတော်မူသည်။

အမှန်မှာ အလ္လာဟ်အရှင်မြတ်သည် မကြာမီအတွင်း မွတ်စ်လင်မ်တို့အား ပြဿနာအရပ်ရပ်ကို ဖြေရှင်းပေးမည့်ပြင် အောင်နိုင်မှုများကိုလည်း ပေးသနားတော်မူမည်ဖြစ်သည်။ အရဗ်နိုင်ငံ၏ ဗဟိုဌာနကြီးဖြစ်သော မက္ကာမြို့တော်ကိုလည်း တမန်တော်မြတ်အား ပြန်လည်အောင်နိုင်စေတော်မူမည်ဖြစ်သည်။ သို့တည်းမဟုတ် အလ္လာဟ်အရှင်မြတ်သည် မိမိ၏တန်ခိုးတော်ဖြင့် မုနာဖစ်က်တို့၏ မျှော်မှန်းချက်များ ဟန်ဆောင်မှုများနှင့် အကြံအစည်များကို အချည်းနှီးဖြစ်စေရန်အတွက် အကြောင်းတရားများကို ဖြစ်ပေါ်စေတော်မူမည်ဖြစ်သည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ဗျာဒိတ်တော်ပင်ဖြစ်၏။

ထိုဗျာဒိတ်တော်အတိုင်းပင် များမကြာမီအတွင်း တမန်တော်မြတ်သည် မက္ကာမြို့တော်ကို ပြန်လည်အောင်နိုင်တော်မူခဲ့၏။ မွတ်စ်လင်မ်များသည် အရာရာတွင် အရေးသာလာခဲ့ကြ၏။ အစ္စလာမ့်အောင်လံသည် တလူလူဖြစ်လာတော့၏။ အစ္စလာမ့်ရန်သူများသည် အရာရာတွင် မရှုမလှအရေးနိမ့်ခဲ့ကြရ၏။ များစွာသော ယဟူဒီများသည် ကွပ်မျက်ခြင်း၊ ပြည်နှင်ဒဏ်ပေးခြင်းခံကြရ၏။ မုနာဖစ်က်တို့၏ မျှော်မှန်းချက်များသည် အချည်းနှီးဖြစ်သွားခဲ့၏။ ၎င်းတို့၏ အကြံအစည်များလည်း ပေါက်ကြားသွားခဲ့၏။ ၎င်းတို့သည် မွတ်စ်လင်မ်များထဲတွင် လူလိမ်များ၊အယောင်ဆောင်များဖြစ်ကြောင်း ထင်ရှားသွားခဲ့ကြ၏။ ယဟူဒီများနှင့် ပူးပေါင်းခြင်းသည်လည်း အဟောသိကံ ဖြစ်သွားခဲ့၏။

မုနာဖစ်က်များသည် ပစ္စုပ္ပန်မျက်မှောက်ဘဝတွင်လည်း အရှက်တကွဲ အကျိုးနည်းဖြစ်ခဲ့ကြရ၏။ နောင်တမလွန်ဘဝတွင်လည်း ကြီးလေးသော ပြစ်ဒဏ်များကို ခံကြရဦးမည်ဖြစ်၏။ မုနာဖစ်က်များသည် ဤဖြစ်ထွေများကို မျက်ဝါးထင်ထင် တွေ့မြင်ကြသောအခါ ခဲလေသမျှ သဲရေကျဖြစ်ကာ အရှက်ကြီး ▶▶

وَيَقُولُ الَّذِينَ آمَنُوا أَهَٰؤُلَاءِ
الَّذِينَ أَقْسَمُوا بِاللَّهِ جَهْدَ
أَيْمَانِهِمْ ۙ إِنَّهُمْ لَمَعَكُمْ ۚ
حَبِطَتْ أَعْمَالُهُمْ فَأَصْبَحُوا
خَاسِرِينَ ﴿٥٣﴾

၅၃။ ၎င်းပြင် 'အီမာန်' သက်ဝင်ယုံကြည်သော သူများက (မုနာဖစ်က်များနှင့် စပ်လျဉ်း၍) "အလ္လာဟ် အရှင်မြတ်အား အထူးတလည် တိုင်တည်၍ မုချဧကန် ၎င်းတို့သည် အသင်တို့နှင့်အတူပင် ရှိကြပါသည်ဟု ပြောဆိုသောသူများမှာ ဤသူများပင်လော" ဟု ပြောဆိုကြမည်။ ၎င်းတို့၏ အပြုအမူများသည် အချည်းနှီး ဖြစ်ခဲ့ချေပြီ၊ သို့ဖြစ်ပေရာ ၎င်းတို့သည် နစ်နာဆုံးရှုံးသူများပင် ဖြစ်ခဲ့ကြချေပြီ။

يَا أَيُّهَا الَّذِينَ آمَنُوا مَن يَرْتَدَّ
مِنكُمْ عَن دِينِهِ فَسَوْفَ يَأْتِي
اللَّهُ بِقَوْمٍ يُحِبُّهُمْ وَيُحِبُّونَهُ
أَذِلَّةٍ عَلَى الْمُؤْمِنِينَ أَعِزَّةٍ
عَلَى الْكَافِرِينَ يُجَاهِدُونَ
فِي سَبِيلِ اللَّهِ وَلَا يَخَافُونَ
لَوْمَةَ لَائِمٍ ۚ ذَٰلِكَ
فَضْلُ اللَّهِ يُؤْتِيهِ
مَن يَشَاءُ ۚ وَاللَّهُ وَاسِعٌ

၅၄။ အို- 'မုအ်မင်န်' သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့အနက်မှ မည်သူမဆို (မိမိ သက်ဝင်ယုံကြည်လျက်ရှိသော အစ္စလာမ်) သာသနာ တော်မှ လှည့်၍ ပြန်ထွက်သွားပါလျှင် အလ္လာဟ် အရှင်မြတ်သည် မကြာမြင့်မီကာလအတွင်း အကြင် လူမျိုးတမျိုးကို ဖန်ဆင်းတော်မူအံ့၊ ယင်းလူမျိုးကို ထို အရှင်မြတ်သည် ချစ်ကြည်တော်မူအံ့။ ထိုနည်းအတူ ၎င်းတို့သည်လည်း အလ္လာဟ်အရှင်မြတ်အား ချစ်ကြည် မြတ်နိုးကြကုန်အံ့။ (ယင်းသူတို့သည်) "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့ အဘို့ နိဝါတ တရား ထားရှိသူများ ဖြစ်ကြအံ့။ "ကာဖိရ်" မယုံ မကြည် သွေဖည်ငြင်းပယ်သော သူတို့အဘို့ကား ပြင်းထန် တင်းမာသော သူများပင်ဖြစ်ကြအံ့။ ထိုသူ တို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ သက်စွန့်ကြိုးပမ်း (တိုက်ခိုက်) ဆောင်ရွက်ကြအံ့။

---

>> ရက်ခဲ့ကြပေသည်။ "လူမိုက်နောက်မှ အကြံရ" ဆိုသကဲ့သို့ ၎င်းတို့၏ နောင်တရခြင်းသည် အကျိုးဖြစ်ထွန်းစေနိုင်တော့မည် မဟုတ်ပေ။ ဤအကြောင်းကိုပင် လာလတ္တံ့သော မုက္ခပါဌ် တော်တွင် မိန့်ဆိုထားတော်မူသည်။

عَلِيْمٌ ﴿٥٤﴾

ငင်းပြင် ထိုသူတို့သည် မည်သည့် ပြစ်တင်ကဲ့ရဲ့သော သူတဦးတယောက်၏ ပြစ်တင်ကဲ့ရဲ့ ပုတ်ခတ်ခြင်းမှုလည်း စိုးရိမ်ကြမည် မဟုတ်ပေ။ ဤသည်ကား အလ္လာဟ် အရှင်မြတ်၏ ကျေးဇူးတော်ပင်တည်း။ ထိုအရှင်မြတ်သည် ထိုကျေးဇူးတော်ကို မိမိအလိုရှိတော်မူသောသူအား ချီးမြှင့်ပေးသနားတော်မူလေသတည်း။ ငင်းပြင် အလ္လာဟ် အရှင်မြတ်သည် ကျယ်ဝန်းစွာ ပေးသနားတော်မူသောအရှင်၊ အကြွင်းမဲ့သိတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

إِنَّمَا وَلِيُّكُمُ اللّٰهُ وَرَسُوْلُهٗ وَالَّذِيْنَ اٰمَنُوا الَّذِيْنَ يُقِيْمُوْنَ الصَّلٰوةَ وَيُؤْتُوْنَ الزَّكٰوةَ وَهُمْ رٰكِعُوْنَ ﴿٥٥﴾

**၅၅။** အမှန်စင်စစ် အသင်တို့၏ ကလျာဏ မိတ်သဟာယ အဆွေခင်ပွန်းကား အလ္လာဟ်အရှင်မြတ်သာလျှင်ငင်း၊ ထိုအရှင်မြတ်၏ ရစူလ် တမန်တော်မြတ် သာလျှင်ငင်း၊ အကြင် "မုအ်မင်န်" သက်ဝင်ယုံကြည်သော သူတို့သာလျှင်ငင်း၊ ဖြစ်ကြကုန်၏။ ထို("မုအ်မင်န်" သက်ဝင်ယုံကြည်သော) သူတို့သည် ကျိုးနွံသူများအဖြစ်နှင့် "ဆွလာတ်" ဝတ်ပြုကြ၏။ ဇကာတ်တရားဝင်ဒါနကြေးကိုလည်းပေးဆောင်ကြ၏၊[၁]

---

① ဤမုကွာပါဠ်တော်တွင် 'မုအ်မင်န်'တို့၏ ဂုဏ်ရည်များကို အထူးမိန့်ဆိုထားတော်မူသည်။ မုအ်မင်န်တို့သည်
(၁) 'အကာအစ်ဒ်' ယုံကြည်ချက်များတွင်လည်း တိကျမှန်ကန်ကြကုန်၏။
(၂) 'အိဗာဒတ်ဗဒနီ' ကာယကံအားဖြင့် လိုက်နာပြုကျင့်ရမည့် အကျင့်သီလများကိုလည်း တိကျမှန်ကန် မြဲမြဲစွာ ဆောက်တည်ကြကုန်၏။ ဥပမာ –ဆွလာတ် ဝတ်ပြုကြကုန်၏။
(၃) 'အိဗာဒတ်မာလီ' ဥစ္စာပစ္စည်းများကိုလည်း အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ ရက်ရောစွာ လှူဒါန်းပေးကမ်းကြကုန်၏။ ဥပမာ– ဇကာတ်ပေးလှူကြကုန်၏။
(၄) စိတ်နေသဘောထားလည်း ဖြူစင်ကြကုန်၏။ နိဝါတတရား အမြဲ လက်ကိုင်ထားကြကုန်၏။ ဆိုလိုသည်ကား မုအ်မင်န်တို့သည် ကာယကံ၊ ဝစီကံ၊ မနောကံတည်းဟူသော ကံသုံးပါးကို ထိန်းသိမ်းစောင့်ရှောက်ကြ၏။ ပစ္စယဒါနအလှူဝတ္ထုပစ္စည်းကိုလည်း လှူဒါန်း၏။ ကြည့် –မာဂျိဒီ။

၅၆။ အမှန်စင်စစ် မည်သူမဆို အလ္လာဟ်အရှင်မြတ်ကိုငှင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်ကိုငှင်း၊ "မုအ်မင်န်" သက်ဝင်ယုံကြည်သော သူတို့ကိုငှင်း၊ ကလျာဏ မိတ်သဟာယ အဆွေခင်ပွန်းများ ပြုလုပ်ကြပါလျှင် (ထိုသို့သော သူများသည် အလ္လာဟ်အရှင်မြတ်၏ ဘက်တော်သားများ ဖြစ်ကြ၏)၊ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်၏ ဘက်တော်သားများ သည်သာလျှင် အောင်မြင်သောသူများ ဖြစ်ကြပေသတည်း။

وَمَنْ يَّتَوَلَّ اللّٰهَ وَرَسُوْلَهٗ وَالَّذِيْنَ اٰمَنُوْا فَاِنَّ حِزْبَ اللّٰهِ هُمُ الْغٰلِبُوْنَ ع ﴿٥٦﴾

၅၇။ အို- 'မုအ်မင်န်' သက်ဝင်ယုံကြည်ကြသူ အပေါင်းတို့၊ အသင်တို့သည် မိမိတို့အလျင် ကျမ်းဂန်ရရှိသော သူတို့အနက်မှ အသင်တို့၏ သာသနာကို ပြက်ရယ် ကျီစယ်ဖွယ်ရာ၊ ကစားဖွယ်ရာ ပြုလုပ်သောသူများအားငှင်း၊ ကာဖိရ်များအားငှင်း၊ မိတ်ဆွေခင်ပွန်းများမပြုလုပ်ကြကုန်လင့်၊ ထို့ပြင် အသင်တို့သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူများ ဖြစ်ကြပါလျှင် အလ္လာဟ်အရှင်မြတ်ကိုသာလျှင် ကြောက်ရွံ့ကြလေကုန်။

يٰۤاَيُّهَا الَّذِيْنَ اٰمَنُوْا لَا تَتَّخِذُوا الَّذِيْنَ اتَّخَذُوْا دِيْنَكُمْ هُزُوًا وَّلَعِبًا مِّنَ الَّذِيْنَ اُوْتُوا الْكِتٰبَ مِنْ قَبْلِكُمْ وَالْكُفَّارَ اَوْلِيَآءَ ۚ وَاتَّقُوا اللّٰهَ اِنْ كُنْتُمْ مُّؤْمِنِيْنَ ﴿٥٧﴾

၅၈။ ထို့ပြင်တဝ အသင်တို့သည် "ဆွလာတ်" ဝတ်ပြုခြင်းငှာ (အဇာန်) ဟစ်ခေါ်ကြသောအခါ၊ [၁] ထိုသူတို့သည် ယင်းဟစ်ခေါ်ခြင်းကိုပင် ပြက်ရယ် ကျီစယ်ဖွယ်ရာနှင့် ကစားဖွယ်ရာငှင်း၊ ပြုလုပ်ကြပေသည်။

وَاِذَا نَادَيْتُمْ اِلَى الصَّلٰوةِ اتَّخَذُوْهَا هُزُوًا وَّلَعِبًا ۗ ذٰلِكَ بِاَنَّهُمْ قَوْمٌ

(၁) ဆွလာတ် ဝတ်ပြုရန် အချိန်ကျရောက်ကြောင်း လူအများ ကြားသိစေရန်အလို့ငှါ ဟစ်ခေါ်ခြင်းကို 'ရှရီအတ်' တရားဥပဒေတွင် 'အဇာန်' ဟူ၍ခေါ်ဆို၏။ 'အဇန်' သည် အစ္စလာမ်သာသနာ၏ ထူးခြားသော အထိမ်းအမှတ်တရပ်ဖြစ်၏။ 'အဇာန်' သည်ဆွလာတ် ဝတ်ပြုရန်အတွက် ဟစ်ခေါ်ခြင်းဖြစ်သည်သာမက ဝတ်ပြုခြင်းလည်းဖြစ်၏။ ➤➤

>> 'အဇာန်' ဟူသည် အောက်ပါအတိုင်းဖြစ်၏။

"အလ္လာဟု အတ်ကဗရ်" အလ္လာဟ်အရှင်မြတ်သည် အကြီးအကဲအမြင့်မြတ်ဆုံးဖြစ်တော်မူ၏။ (၄-ကြိမ်)။

'အရှ်ဟဒုအလ္လာအီလာဟ အစ်လ္လလ္လာဟ်" အလ္လာဟ်အရှင်မြတ်မှတပါး အခြားကိုးကွယ်ရာမရှိကြောင်း ကျွန်တော်မျိုးသက်သေခံပါ၏။ (၂-ကြိမ်)။

"အရှ်ဟဒုအန္န မုဟမ္မဒ်ရ် ရစူလုလ္လာဟ်" မုဟမ္မဒ်သခင်သည် အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော် ဖြစ်ကြောင်း ကျွန်တော်မျိုးသက်သေခံပါ၏။ (၂-ကြိမ်)။

"ဟိုင်ယ အလဆွ်ဆွလာတ်" ဆွလာတ် ဝတ်ပြုရန် လာကြကုန်လော့။ (၂-ကြိမ်)။

"ဟိုင်ယ အလလ်ဖလာတ်" အောင်မြင်ခြင်းသို့ လာကြကုန်လော့။ (၂-ကြိမ်)။

"အဆွ်ဆွလာတု ခိုင်ရွှန်မ်မိနန်နောင်မ်" ဆွလာတ်ဝတ်ပြုခြင်းသည် အိပ်စက်ခြင်းထက် ကောင်းမြတ်၏။ (၂-ကြိမ်)။ (ဤစာပိုဒ်သည် 'ဖဂျ်ရ်' ဆွလာတ်ဝတ်ပြုခြင်းနှင့်သာလျှင် သက်ဆိုင်ပေသည်)။

"အလ္လာဟုအတ်ကဗရ်" အလ္လာဟ်အရှင်မြတ်သည် အကြီးကဲအမြင့်မြတ်ဆုံးဖြစ်တော်မူ၏။ (၂-ကြိမ်)။

"လာအီလာဟ အစ်လ္လလ္လာဟ်" အလ္လာဟ်အရှင်မြတ်မှတပါး အခြားကိုးကွယ်ရာ အလျင်းမရှိ။ (၁-ကြိမ်)

အထက်တွင်ဖော်ပြပါအတိုင်း 'အဇာန်' မြွက်ဆိုရာတွင် အလ္လာဟ်အရှင်မြတ်၏ ကြီးကဲမြင့်မြတ်ကြောင်း ထိုအရှင်မြတ်သည် တပါးတည်း ဖြစ်တော်မူကြောင်း၊ တမန်တော် မုဟမ္မဒ်သည် ထိုအရှင်မြတ်၏ တမန်တော် ဖြစ်ကြောင်း၊ ဆွလာတ်ဝတ်ပြုရန် ဘိတ်ခေါ်ခြင်း၊ အောင်မြင်ရန်ဘိတ်ခေါ်ခြင်း၊ ဆွလာတ် ဝတ်ပြုခြင်းသည် အိပ်စက်နေခြင်းထက်ကောင်းခြင်း ---များ ပင်ပါရှိ၏။ အဇာန်တွင်ပါရှိသော စကားများကား မှန်ကန်လှ၏။ မြင့်မြတ်လှ၏။ သာယာနာပျော်ဘွယ်ကောင်းလှ၏။ ဤထက်ပိုမိုကောင်းမြတ်သော ကြွေးကြော်သံသည် အဘယ် အသံ ဖြစ်နိုင်အံ့နည်း။

ကမ္ဘာအဝှန်းတွင် မွတ်စ်လင်မ်တို့သည် ပျံ့နှံ့လျက်ရှိကြ၏။ မွတ်စ်လင်မ်တို့ရှိသည့် နေရာတိုင်းလိုလို မှာပင် 'မတ်စ်ဂျဒ်' ဗလီဝတ်ကျောင်းရှိ၏။ 'မုအဇ်ဇင်န်' အဇာန်ဆိုသူသည် ဗလီဝတ် ကျောင်းတွင် မြင့်သောနေရာသို့ တက်၍ မတ်တတ်ရပ်ပြီး တနေ့လျှင် ငါးကြိမ်တိတိ အဇာန်ဆို၏။ လူသားထုကြီးတရပ်လုံးအား အောင်မြင်ရာသို့ ဘိတ်မန္တကပြုလျက်ရှိ၏။ သာယာနာပျော်ဘွယ်ကောင်းလှတော့၏။

အထက်တွင် ဖော်ပြပါအတိုင်း 'အဇာန်' တွင် ပြက်ရယ်ကျီစယ်ဘွယ်ရာ စကားတပိုဒ်မျှမပါရှိပေ။ ဤရွေ့ ဤမျှ မှန်ကန်မြင့်မြတ် သာယာနာပျော်ဘွယ်ဖြစ်သော 'အဇာန်' ကို ပြောင်လှောင်ပြက်ရယ် ကျီစယ်သူတို့မှာ အသိအလိမ္မာ ဉာဏ်ပညာမရှိသော၊ စိတ်စေတနာ မဖြူစင်သော မိုက်တွင်းနက်လှသော သူယုတ်မာများသာ ဖြစ်ကြပေမည်။ ကြည့် -မာဂျိဒီ။

(၂) "အစ်တ္တခသူဟာ" ၌ပါရှိသော 'ဟာ' ဟူသော နာမ်စားသည် ဆွလာတ်ဝတ်ပြုခြင်းကို ရည်ညွှန်းသည်ဟုလည်း ဆိုနိုင်၏။ 'အဇာန်' ဟစ်ခေါ်ခြင်းကို ရည်ညွှန်းသည်ဟုလည်းဆိုနိုင်၏။ မုကွ္ခပါဋ်တော်၏ အနေအထားကို ထောက်ထားသည်ရှိသော် အဆိုပါနာမ်စားသည်'အဇာန်'ကို ရည်ညွှန်းသည်ဟုဆိုခြင်းမှာ ပိုမို၍သင့်မြတ်၏။

ကြည့် -မာဂျိဒီ၊ အစောင်- ၂၊ စာမျက်နှာ -၂၅၉၊ အောက်ခြေအမှတ် -(၂၀၆)။

لَا يَعْقِلُونَ ۝٥٨

ယင်းကဲ့သို့ ပြုလုပ်ခြင်း၏ အကြောင်းကား ထိုသူတို့သည် လုံးဝ အသိဉာဏ်ကင်းမဲ့သော လူတစုပင် ဖြစ်သောကြောင့်သာတည်း။ [၁]

قُلْ يَٰٓأَهْلَ ٱلْكِتَٰبِ هَلْ
تَنقِمُونَ مِنَّآ إِلَّآ أَنْ ءَامَنَّا
بِٱللَّهِ وَمَآ أُنزِلَ إِلَيْنَا
وَمَآ أُنزِلَ مِن قَبْلُ
وَأَنَّ أَكْثَرَكُمْ فَٰسِقُونَ ۝٥٩

၅၉။ (အို-နဗီတမန်တော်) အသင်သည် (ရှေး အထက်ကျမ်းဂန်ရရှိသူ ယဟူဒီနှင့် ခရစ်ယာန်တို့အား ဤသို့) ပြောဆိုပါလေ။ "အို- ကျမ်းဂန်ရရှိသူ အပေါင်းတို့၊ အကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်တကွ မိမိတို့ထံ ကျရောက်လာသော ဓမ္မဒေသနာတော်နှင့် ရှေး အထက်ကျော်ကာရီက ကျရောက်ခဲ့လေသော ဓမ္မ ဒေသနာတော်များကိုပါ သက်ဝင်ယုံကြည်ကြသည်ကို သာလျှင် အသင်တို့သည် အကျွန်ုပ်တို့ အပေါ်၌ ကဲ့ရဲ့ပြစ်တင်နေကြသည် မဟုတ်ပါလော။ အမှန်စင်စစ်သော်ကား အသင်တို့အနက် များစွာသော သူတို့သည် စည်းကမ်းဖေါက်ဖျက်သောသူများပင် ဖြစ်ကြပေသတည်း။ [၂]

---

① **ထုတ်ပြန်ပို့ချတော်မူသည့် အကြောင်း။**

မဒီနာမြို့တွင် နဆွ်ရာနီတယောက်ရှိ၏။ ဆွလာတ်ဝတ်ပြုရန်အတွက် 'မုအတ်ဇ်ဇင်န်' က 'အဇာန်' ဆိုရာတွင် "အရှ်ဟဒုအန္န မုဟမ္မဒရ် ရစူလုလ္လာဟ်" ဟု မြွက်ဆိုဟစ်ကြွေးသောအခါ ထိုနဆွ်ရာနီက "ကဒ်ဟရိကလ်ကာဇ်ဗ်" "လိမ်လည်သူသည် လောင်ကျွမ်းပါစေ" ဟုဆို၏။ တညဉ့်သော် ထိုသူ၏အစေခံမသည် မီးယူလာ၏။ ထိုသူနှင့်ထိုသူ၏ အိမ်သူအိမ်သားများသည် အိပ်စက်လျက်ရှိကြ၏။ အစေခံမယူလာသော မီးမှ မီးခဲတခဲ ကျသွားသဖြင့် အိမ်မီးလောင်ကျွမ်းရာ ထိုနဆွ်ရာနီနှင့် ၎င်း၏ အိမ်သူအိမ်သား များပါ လောင်ကျွမ်းသွားကြလေသည်။ ကြည့် -အိဗ်နုဂျရီရ်၊ ထာနဝီ၊

② မွတ်စ်လင်မ်တို့သည် အလ္လာဟ်အရှင်မြတ်အားယုံကြည်မြတ်နိုးကြ၏။ မိမိတို့ထံသို့ကျရောက်သော ကျမ်းဂန်ကိုလည်း မြတ်နိုးကြ၏။ ရှေးအထက်ကျော် ကာရီက ကျရောက်ခဲ့သော ကျမ်းဂန်များကိုလည်း မြတ်နိုးကြ၏။ မိမိတို့ထံတွင် ပွင့်တော်မူသော နဗီတမန်တော်ကိုလည်း ယုံကြည်မြတ်နိုးကြ၏။ အတိတ်ခေတ်တွင် အသီးသီး ပွင့်တော်မူခဲ့သော နဗီတမန်တော်များကိုလည်း ယုံကြည်မြတ်နိုးကြ၏။ အစ္စလာမ် သာသနာတော်တွင် ပါရှိသမျှသော အချက်အလက်များအနက် မည်သည့်အချက်အလက်ကိုမျှလည်း အပြစ်ဆိုဖွယ်ရာမရှိ။ သို့ပါလျက်လည်း ကိတာဗီများသည် မွတ်စ်လင်မ်တို့အား မနာလိုမုန်းတီးလျက်ရှိကြ၏။

သို့ဖြစ်ပေရာ တနည်းအားဖြင့်ကိတာဗီများထံတွင် မွတ်စ်လင်မ်တို့၏အပြစ်မှာအခြားမဟုတ်၊ ➤➤

قُلْ هَلْ أُنَبِّئُكُمْ بِشَرٍّ مِّنْ ذٰلِكَ مَثُوْبَةً عِنْدَ اللّٰهِ ۚ مَنْ لَّعَنَهُ اللّٰهُ وَغَضِبَ عَلَيْهِ وَجَعَلَ مِنْهُمُ الْقِرَدَةَ وَالْخَنَازِيْرَ وَعَبَدَ الطَّاغُوْتَ ۚ أُولٰٓئِكَ شَرٌّ مَّكَانًا وَّأَضَلُّ عَنْ سَوَآءِ السَّبِيْلِ ﴿٦٠﴾

၆၀။ အသင်သည် (ကိတာဗီ ရေးအထက် ကျမ်းဂန်ရရှိသောသူတို့အား ဤသို့) ပြောကြားပါလေ။ ငါသည် "အလ္လာဟ်အရှင်မြတ် အထံတော်၌ အကျိုးအားဖြင့် ထို့ထက် ဆိုးရွားသောအဖြစ်အပျက်ကို အသင်တို့အား ထုတ်ဖော် ပြောဆိုရမည်လော။ (၎င်းအဖြစ်အပျက်မှာကား) အကြင်သူတို့၏ (အဖြစ်အပျက်) ပင်တည်း။ အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့အား (မိမိ) ကရုဏာတော်မှ ကင်းဝေးစေတော်မူခဲ့၏။ ၎င်းပြင် ယင်းသူတို့အပေါ်၌ အမျက်တော်လည်း ပွားတော်မူခဲ့၏။ ၎င်းပြင် ထိုသူတို့အနက်မှ မျောက်တိရစ္ဆာန်များနှင့် ဝက်တိရစ္ဆာန်များလည်း ဖြစ်စေတော်မူခဲ့၏။ ၎င်းပြင် ထိုသူတို့သည် 'ရှိုင်တွာန်' မိစ္ဆာကောင်ကိုလည်း ဆည်းကပ်ကိုးကွယ်ခဲ့ကြ၏။ [၁]

➤➤ အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုးခြင်း။ ထိုအရှင်မြတ်ထံတော်မှ ကျရောက်သမျှသော ကျမ်းဂန်အသီးသီးကို ယုံကြည်ခြင်း ထိုအရှင်မြတ်၏ နဗီတမန်တော် အသီးသီးတို့အား ယုံကြည်မြတ်နိုးခြင်းသည်ပင်လျှင် မွတ်စ်လင်မ်တို့၏ အပြစ်ဖြစ်၍နေချေသည်။ ဤကားအံ့ဘွယ်ရာပင်။

ကိတာဗီများသည် မွတ်စ်လင်မ်တို့အား အကြောင်းမဲ့ မုန်းတီးလျက်ရှိကြ၏။ အမှန်မှာ ၎င်းတို့အနက်များစွာသောသူများသည် ကျမ်းဂန်လာ တရားဥပဒေစည်းကမ်းများကို အမျိုးမျိုး ဖေါက်ဖျက်လျက်ရှိကြ၏။ 'တောင်ဟီဒ်' အပေါ်၌ပင် အတိအကျ တည်ရှိကြသည်မဟုတ်။ ပွင့်လေသမျှသော နဗီတမန်တော် အားလုံးကိုလည်း ယုံကြည် မြတ်နိုးကြသည်မဟုတ်၊ ကျရောက်သမျှသော ကျမ်းဂန် အသီးသီးကိုလည်း အတိအကျ ယုံကြည် ကြသည်မဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကိုလည်း အမျိုးမျိုး သွေဖည်လျက်ရှိကြ၏။ မိမိအပြစ်ကိုမမြင်ဘဲ သူတပါး၏ ကောင်းမှုကိုပင် တမင် အပြစ်ဆိုခြင်းသာဖြစ်သည်။ ထို့အတွက်ကြောင့်ပင် အလ္လာဟ်အရှင်မြတ်က ဤမုဗ္ဗါရက်ပါဌ်တော်တွင် တမန်တော်မြတ်အား ကိတာဗီများကို ချေပဖြေကြား စေတော်မူခြင်းဖြစ်သည်။ (မာဂျိဒီ၊)

(၁) အထက်တွင် ရေးသားဖော်ပြခဲ့သည့်အတိုင်း မွတ်စ်လင်မ်တို့သည် အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုးကြ၏။ ထိုအရှင်မြတ်၏ နဗီတမန်တော်များနှင့် ကျမ်းဂန်အသီးသီးကိုလည်း ယုံကြည်မြတ်နိုးကြ၏။ ဤသို့ယုံကြည် မြတ်နိုးလျက်ရှိသော မွတ်စ်လင်မ်များကိုပင် ကိတာဗီများသည် မုန်းတီးကြ၏။ မွတ်စ်လင်မ်များ၏ လမ်းစဉ်ကိုလည်း ကဲ့ရဲ့ပြစ်တင်ကြ၏။ အမှန်မှာ မွတ်စ်လင်မ်တို့၏ လမ်းစဉ်သည် တိကျမှန်ကန်လှသဖြင့် ချီးမွမ်းဘွယ်ရာပင်ဖြစ်၏။ ကဲ့ရဲ့ပြစ်တင်ဘွယ်ရာကား အလျင်းမဟုတ်။

အလ္လာဟ်အရှင်မြတ်၏အထံတော်၌ အပြစ်အားဖြင့် အဆိုးရွားဆုံးသော လမ်းစဉ်ကား အကြင်သူများ၏ လမ်းစဉ်ပင်ဖြစ်၏။ ထိုသူများကို အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ဆိုးသွမ်းမှု၊ သွေဖည်မှု၊ ➤➤

ထိုသူတို့သည် (လားရာ) နေရာဌာနအားဖြင့်လည်း အဆိုးရွားဆုံးသော သူများပင်ဖြစ်ကြ၏။ ၎င်းပြင် ဖြောင့်မတ်မှန်ကန်သော တရားလမ်းတော်မှလည်း အလွန်ဝေးကွာလျက်ရှိသော သူများပင် ဖြစ်ကြ၏။

**၆၁။** ၎င်းပြင် ထို(မုနာဖစ်က်) တို့သည် အသင်တို့ထံ လာကြလေသောအခါ 'ကျွန်ုပ်တို့သည် "အီမာန်" ယုံကြည်ခြင်း သဒ္ဓါတရား ထားရှိကြပါပြီ' ဟု (လိမ်လည်) ပြောဆိုကြကုန်၏။ စင်စစ်တမူကား ၎င်းတို့သည် "ကွတ်ဖ်ရ်" သွေဖည် ငြင်းပယ်မှုကို ယူဆောင်၍ ဝင်ရောက်လာကြပြီး ထို 'ကွတ်ဖ်ရ်' သွေဖည်ငြင်းပယ်မှုကိုပင် ယူဆောင်၍ ပြန်ထွက်သွားကြလေသည်။ ^၁ သို့ရာတွင် အလ္လာဟ်အရှင်မြတ်မှာမူကား ၎င်းတို့ ထိမ်ချန် လျှို့ဝှက်ထားရှိကြလေသောအရာများကို အသိဆုံးပင် ဖြစ်တော်မူပေသတည်း။

وَإِذَا جَآءُوكُمْ قَالُوٓا۟ ءَامَنَّا وَقَد دَّخَلُوا۟ بِٱلْكُفْرِ وَهُمْ قَدْ خَرَجُوا۟ بِهِۦ ۚ وَٱللَّهُ أَعْلَمُ بِمَا كَانُوا۟ يَكْتُمُونَ ﴿٦١﴾

---

➤➤ ယုတ်မာမှုများကြောင့် မိမိ၏ကရုဏာမှုပင် ကင်းဝေးစေတော်မူခဲ့၏။ ထိုသူများအပေါ်၌ အမျက်တော်ထွက်တော်မူခဲ့၏။ ထိုသူများအနက် အချို့ကိုမျောက်တိရစ္ဆာန်၊ ဝက်တိရစ္ဆာန်များ ဖြစ်စေတော်မူခဲ့၏။ ထိုသူများသည် အလ္လာဟ် အရှင်မြတ်အား ဖဲကြဉ်၍ ရှိုင်တွာန်ကိုလည်း ဆည်းကပ်ကိုးကွယ်ခဲ့ကြ၏။ ထိုသူများသာလျှင် အဆိုးရွားဆုံးဖြစ်ကြ၏။ ထိုသူများသာလျှင် ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်မှ ဝေးခြင်းကြီးမက ဝေးလျက်ရှိကြ၏။ ထိုသို့သောသူများ၏ လမ်းစဉ်သည်သာလျှင် ကဲ့ရဲ့ပြစ်တင်ဘွယ်ရာဖြစ်၏။ ထိုလမ်းစဉ်က အခြားမဟုတ် မွတ်စ်လင်မ်တို့အား မုန်းတီးလျက်ရှိသောသူများ၏ လမ်းစဉ်ပင်တည်း။

(၁) ဤမုက္ကပါဋ္ဌ်တော်တွင်'မုနာဖစ်က်' များ၏အကြောင်း။ အထူးသဖြင့် ယဟူဒီ မုနာဖစ်က်များ၏အကြောင်း မိန့်ဆိုထားတော်မူ၏။ ကြည့် -ဂျလာလိုင်န်။

မုနာဖစ်က်များသည် မွတ်စ်လင်မ်တို့နှင့် တွေ့ဆုံကြသည့်အခါ ပရိယာယ်ဖြင့် ကျွန်ုပ်တို့သည်လည်း "အီမာန်" ယုံကြည်ကြပါသည်ဟု ပြောဆိုကြ၏။ အမှန်မှာ ၎င်းတို့၏စိတ်နှလုံးတွင် 'အီမာန်' မရှိ။ 'ကုဖ်ရ်' သာရှိ၏။ ၎င်းတို့သည် 'ကုဖ်ရ်' ၏ ယုံကြည်ချက်များကို ယူဆောင်၍ လာခဲ့ကြ၏။ 'ကုဖ်ရ်' ၏ယုံကြည်ချက်များကို ယူဆောင်၍ပြန်သွားကြ၏။ ဆိုလိုသည်ကား ကာဖိရ်အဖြစ်နှင့် လာခဲ့ကြ၏။ ကာဖိရ်အဖြစ်နှင့်ပင် ပြန်သွားခဲ့ကြ၏။ ထိုသူတို့သည် တမန်တော်မြတ်၏ တရားဒေသနာတော်များကို ကြားကြသော်လည်း မည်သို့မျှ လက်ခံနာယူကြသည်မရှိချေ။ ဟူလို။ ကြည့် -ကုရ်တုဗီ။ မာရိုဒီ။

၆၂။ ထို့ပြင်တဝ အသင်သည် ထို (ယဟူဒီ) တို့ အနက် မြောက်မြားစွာသောသူတို့ကို ပြစ်မှုဒုစရိုက် ပြုခြင်း၌၎င်း၊ မတော်မတရား ကျူးကျော်စော်ကား ခြင်း၌၎င်း၊ မတရားသဖြင့်ရရှိသောပစ္စည်းကို စား သုံးခြင်း၌၎င်း သူ့ထက်ငါသာအောင် ပြေးလွှား (သက်ဆင်း) ကြသည်ကို တွေ့မြင်လတ္တံ့။ စင်စစ်ကေန် ၎င်းတို့၏ အပြုအမူတို့သည် ယုတ်ညံ့သိမ်ဖျင်း လှပေတကား။

وَتَرَىٰ كَثِيرًا مِّنْهُمْ يُسَارِعُونَ
فِي الْإِثْمِ وَالْعُدْوَانِ
وَأَكْلِهِمُ السُّحْتَ ۚ لَبِئْسَ
مَا كَانُوا يَعْمَلُونَ ﴿٦٢﴾

၆၃။ (၎င်းတို့၏) Ribbi ဘုန်းကြီးရဟန်းတို့နှင့် ပညာရှင်တို့သည် ထိုသူတို့အား အပြစ်ရှိသော(မုသား) စကားကို ပြောဆိုခြင်းမှ၎င်း၊ မတရားသဖြင့်ရရှိသော ပစ္စည်းကိုစားသုံးခြင်းမှ၎င်း၊ *အဘယ်ကြောင့် မတားမြစ် ကြသနည်း။* [၁] ထိုသူတို့ပြုလေ့ရှိသော အပြုအမူများ သည် မုချကေန် ဆိုးရွားလှပေ၏တကား။

لَوْلَا يَنْهَاهُمُ الرَّبَّانِيُّونَ
وَالْأَحْبَارُ عَن قَوْلِهِمُ
الْإِثْمَ وَأَكْلِهِمُ السُّحْتَ ۚ
لَبِئْسَ مَا كَانُوا يَصْنَعُونَ ﴿٦٣﴾

၆၄။ ၎င်းပြင် ယဟူဒီတို့က "*အလ္လာဟ်အရှင်မြတ်၏ လက်သည် ဆုပ်ထားပြီးဖြစ်သည်*" *ဟု ပြောဆိုကြ ကုန်သည်။* [၂]

وَقَالَتِ الْيَهُودُ يَدُ اللَّهِ

---

(၁) ယဟူဒီ အကြီးအကဲတို့သည် ပြစ်မှုကြီးငယ်တို့ကို ကျူးလွန်လျက်ရှိသော မိမိတို့နောက်လိုက် ငယ်သားတို့အား မသွန်သင် မဆုံးမကြသည့်အတွက် ထိုအကြီးအကဲတို့အား ဤမုက္ခပါဠ်တော် တွင် ပြစ်တင်မိန့်ကြားထားတော်မူ၏။

အာလင်မ် ပညာရှင်များအား ကြိမ်းမောင်းမိန့်ကြားရာတွင် ကုရ်အာန်ကျမ်းမြတ်၌ ဤမုက္ခပါဠ် တော်ထက် ပြင်းထန်သောမုက္ခပါဠ်တော်မရှိချေ၊ ၎င်းပြင် ထိုပညာရှင်တို့အဖို့ ဤမုက္ခပါဠ်တော်ထက် စိုးရိမ် ကြောက်မက်ဘွယ်ကောင်းသော မုက္ခပါဠ်တော်လည်းမရှိချေဟူ၍ အာလင်မ်ပညာရှင်များက ဆိုကြ၏။ (အိဗ်နုဂျရီရ်)

တမန်တော်မြတ်က မိန့်ကြားတော်မူခဲ့၏။ အကြင်လူတယောက်သည် လူမျိုးတမျိုးတွင်ရှိ၏။ ထိုသူသည် ထိုလူမျိုးတွင် ဒုစရိုက်မှုများကို ပြုလုပ်၏။ ထိုလူမျိုးသည် ထိုသူအား ဒုစရိုက်မှုပြု လုပ်ခြင်းမှ တားဆီးနိုင်ပါလျက် မတားဆီးဘဲနေကြ၏။ သို့ဖြစ်လျှင် အလ္လာဟ်အရှင်မြတ်သည် ထိုလူမျိုးကို ၎င်းတို့မသေမီပင် ပြစ်ဒဏ်တပ်ရိုက် စီရင်တော်မူလေသည်။ (အိဗ်နုကဆီရ်။ အိဗ်နုဂျရီရ်၊)

(၂) **ထုတ်ပြန်ပို့ချတော်မူသည့်အကြောင်း**

တမန်တော်မြတ်သည် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) မဒီနာမြို့သို့ကြွရောက် လာသည့် ➤➤

ငင်းတို့၏ လက်များသည်သာလျှင် ဆုပ်ထားပြီးဖြစ်ကြ၏။ စင်စစ် ထိုသူတို့သည် မိမိတို့၏ ထိုပြောဆိုမှုကြောင့် (အလ္လာဟ် အရှင်မြတ်၏) ကရုဏာတော်မှ ကင်းဝေး ကြရလေပြီ။ (အလ္လာဟ် အရှင်မြတ်၏ လက်တော်များသည်) အလျင်း (ဆုပ်ထားပြီး) မဟုတ်ပေ။ စင်စစ်မှာမူကား ထိုအရှင်မြတ်၏ လက်တော် နှစ်ဘက်စလုံးပင် ပြန့်လျက်ရှိကုန်၏။ ထိုအရှင်မြတ်သည် မိမိ အလိုတော်အတိုင်း သုံးစွဲလျက် ရှိတော်မူ၏။

مَغْلُولَةٌ غُلَّتْ أَيْدِيهِمْ وَلُعِنُوا بِمَا قَالُوا بَلْ يَدَاهُ مَبْسُوطَتَانِ يُنفِقُ كَيْفَ يَشَاءُ وَلَيَزِيدَنَّ كَثِيرًا مِّنْهُم مَّا أُنزِلَ إِلَيْكَ مِن رَّبِّكَ طُغْيَانًا وَكُفْرًا

---

➤➤ အခါ ယဟူဒီများသည် တမန်တော်မြတ်အား မုန်းတီးကြ၏။ ဆန့်ကျင်ကြ၏။

ထိုအခါ အလ္လာဟ် အရှင်မြတ်သည် ငင်းတို့၏ စားရေး သောက်ရေးကို ကျပ်တည်း ခဲယဉ်းစေတော် မူခဲ့၏။ ယင်းသို့ စားရေး သောက်ရေး ကျပ်တည်း ခဲယဉ်း လာသည့်အခါ အချို့ ယဟူဒီများက (ဝါ ရာစ်အိဗ်နုကိုက်စ် နှင့် ကိုင်န်ကာအ် မျိုးနွယ် ယဟူဒီများ၏ ခေါင်းဆောင်ဖြစ်သူ ဖင်န်ဟာဆွ် အိဗ်နုအာဇူရာက အလ္လာဟ် အရှင်မြတ်နှင့် စပ်လျဉ်း၍ "အလ္လာဟ် အရှင်မြတ်၏ လက်တော်သည် ဆုပ်ထားပြီးဖြစ်သည်" ဟု မရိုမသေ မလေးမစား မခန့်မညား ပြောဆိုကြ၏။ ထိုအခါ ဤမုက္ကပါဌ်တော် ကျရောက်လာ၏။

ယဟူဒီများတွင် အလ္လာဟ် အရှင်မြတ်နှင့် စပ်လျဉ်း၍ မဘွယ်ရာသော စကားပြောဆိုသူမှာ နှစ်ယောက်ပင် ဖြစ်သော်လည်း ကျန် ယဟူဒီများသည် ထိုသူနှစ်ယောက်အား ယင်းသို့ ပြောဆိုခြင်းမှ မြစ်တားခြင်း မပြု ကြသည့် အပြင် ထိုသို့ ပြောဆိုခြင်းကို နှစ်ခြိုက်ခဲ့ကြ သည့်အတွက် ကုရ်အာန် ကျမ်းမြတ်တွင် ယဟူဒီများက ယင်းသို့ ပြောဆို ခဲ့ကြသည်ဟူ၍ မိန့်ဆိုထားတော် မူခြင်း ဖြစ်ပေသည်။

(ကြည့်-ထာနဝီ။)

ဤမုက္ကပါဌ်တော်နှင့် စပ်လျဉ်း၍ ကုရ်အာန် (၃း ၁၈၀) နှင့် သက်ဆိုင်ရာ ထုတ်ပြန်ပို့ချတော်မူသည့် အကြောင်းကို ရှုပါ။

တကယ် လက်ပြတ်နေသူ တဦးသည်ပင် ပေးကမ်း လှူဒါန်းပါက ထိုသူနှင့် စပ်လျဉ်း၍ "ငင်း၏လက် သည် ပြန့်နေသည်" ဟူ၍ငင်း၊ စေးနှဲပါက "ငင်း၏လက်သည် ဆုပ်ထားသည်" ဟူ၍ငင်း၊ စာပေအရ လွတ်လပ်စွာ ရေးသား သုံးနှုန်းနိုင်ပေသည်။ ကြည့်-မာဂျိဒီ။

وَأَلْقَيْنَا بَيْنَهُمُ الْعَدَاوَةَ وَالْبَغْضَاءَ إِلَىٰ يَوْمِ الْقِيَامَةِ ۚ كُلَّمَا أَوْقَدُوا نَارًا لِّلْحَرْبِ أَطْفَأَهَا اللَّهُ ۚ وَيَسْعَوْنَ فِي الْأَرْضِ فَسَادًا ۚ وَاللَّهُ لَا يُحِبُّ الْمُفْسِدِينَ ﴿٦٤﴾

ငင်းပြင် အသင်၏ အရှင်မြတ်အထံတော်မှ အသင့်ထံသို့ ကျရောက်လာသောအရာ (ကုရ်အာန်ကျမ်းတော်မြတ်)သည် ထိုသူတို့အနက်များစွာသော သူတို့အား ကျူးလွန်မှုနှင့် သွေဖည်ငြင်းပယ်မှုကို မုချတိုးပွားစေအံ့။ ထို့ပြင်တဝ ငါအရှင်မြတ်သည် ငင်းတို့၏စပ်ကြားဝယ် ရန်ငြိုးထားခြင်းနှင့် မုန်းတီးမှုကို "ကိယာမတ်" ရှင်ပြန်ထမည့် နေ့တိုင်အောင် ဖန်တီးတော်မူခဲ့လေသည်။ ငင်းတို့သည် စစ်မီးကို မွေးတိုင်း မွေးတိုင်း အလ္လာဟ်အရှင်မြတ်သည် ထိုမီးကို ငြိမ်းအေးစေတော်မူခဲ့၏။ ထိုမှတပါး ယင်းသူတို့သည် ကမ္ဘာမြေပြင်ဝယ် ပျက်စီးရာ ပျက်စီးကြောင်းကို ကြိုးစားအားထုတ်ကြကုန်သည်။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ပျက်စီးရာ ပျက်စီးကြောင်း ပြုလုပ်သောသူတို့အား (အလျှင်း) ချစ်ကြည် မြတ်နိုးတော်မူသည် မဟုတ်ပေ။

وَلَوْ أَنَّ أَهْلَ الْكِتَابِ آمَنُوا وَاتَّقَوْا لَكَفَّرْنَا عَنْهُمْ سَيِّئَاتِهِمْ وَلَأَدْخَلْنَاهُمْ جَنَّاتِ النَّعِيمِ ﴿٦٥﴾

**၆၅။** ငင်းပြင် အကယ်၍ ရှေးအထက် ကျမ်းဂန်ရရှိသူ ကိတာဗီများသည် "အီမာန်" ယုံကြည်ခြင်း သဒ္ဓါတရားထားရှိ၍ ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်ကြပါမူ၊ မုချဧကန် ငါအရှင်မြတ်သည် ငင်းတို့၏ ပြစ်မှုများကို (ခွင့်လွှတ်)တော်မူ၍ ငင်းတို့အား ချမ်းသာသုခနှင့် ပြည့်စုံသောဥယျာဉ်များသို့လည်း ဝင်ရောက်စေတော်မူအံ့။ [၁]

---

(၁) အလွန်ကြီးမားလှသော မှုပြစ်ကြီးငယ်တို့ကို ကျူးလွန်ခဲ့ကြသော ကိတာဗီများသည်ပင် အကယ်၍ မိမိတို့၏အပြစ်များကို ဝန်ချတောင်းပန် အသနားခံ၍ တမန်တော်မြတ် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) နှင့် ကုရ်အာန်ကျမ်းမြတ်ကို ယုံကြည်ကြလျှင်၊ 'တတ်က်ဝါ' တရားကို လက်ကိုင်ထားကြလျှင် အလ္လာဟ်အရှင်မြတ်သည် ငင်းတို့၏ အပြစ်များကို ခွင့်လွှတ်တော်မူ၍ ငင်းတို့အား ဂျန္နတ်တွင် စံမြန်းခွင့် ပေးတော်မူမည်ဖြစ်၏။ ယခုထက်တိုင်ငင်းတို့အတွက် 'တောင်ဗဟ်' ဝန်ချတောင်းပန်ခြင်း၏ တံခါးသည် မပိတ်သေးချေ။ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကား ကြီးမားလှပါပေတကား။

وَلَوْ أَنَّهُمْ أَقَامُوا التَّوْرَاةَ
وَالْإِنجِيلَ وَمَا أُنزِلَ إِلَيْهِم
مِّن رَّبِّهِمْ لَأَكَلُوا مِن فَوْقِهِمْ
وَمِن تَحْتِ أَرْجُلِهِم ۚ مِّنْهُمْ
أُمَّةٌ مُّقْتَصِدَةٌ ۖ وَكَثِيرٌ
مِّنْهُمْ سَاءَ مَا يَعْمَلُونَ ﴿٦٦﴾

၆၆။ ထိုမှတပါး အကယ်၍သာ ၎င်းတို့သည် "တောင်ရာတ်" "အင်န်ဂျီလ်" ကျမ်းများနှင့်တကွ ၎င်းတို့၏ အရှင်မြတ် အထံတော်မှ ၎င်းတို့ထံ (နဗီတမန်တော် မုဟမ္မဒ်မှ တဆင့်) ကျရောက်လာသော (ကုရ်အာန်)ကျမ်းတော်မြတ်ကိုပါ အတည်ပြုလိုက်နာကြပါသော် မုချဧကန် ထိုသူတို့သည် မိမိတို့ *အထက်မှ၎င်း၊ မိမိတို့၏ ခြေဖျားအောက်မှ၎င်း၊* [၁] (ခဲဘွယ်ဘောဇဉ်များကို ဖေါဖေါသီသီ) စားသုံးကြလတ္တံ့။ ထိုသူတို့တွင် *ဖြောင့်မတ်မှန်ကန်သော လမ်းကို လိုက်သော လူတစ်စုသည်(လည်း) ရှိကြပေသည်။* [၂] သို့ရာတွင် ထိုသူတို့အနက် အများစု၏ ပြုမူချက်တို့ကား ဆိုးရွားချေသတည်း။

يَا أَيُّهَا الرَّسُولُ بَلِّغْ مَا أُنزِلَ
إِلَيْكَ مِن رَّبِّكَ ۖ وَإِن لَّمْ
تَفْعَلْ فَمَا بَلَّغْتَ رِسَالَتَهُ ۚ
وَاللَّهُ يَعْصِمُكَ مِنَ النَّاسِ ۗ
إِنَّ اللَّهَ لَا يَهْدِي الْقَوْمَ

၆၇။ အို-ရစူလ်တမန်တော်၊ အသင်သည် မိမိ အရှင်မြတ် အထံတော်မှ မိမိထံသို့ ကျရောက်လာသမျှသော ဒေသနာတော်များကို (လူခပ်သိမ်းတို့ထံသို့) *ပို့ဆောင်ဟောကြားပါလေ။* [၃] အကယ်တန္တု အသင်သည် (ထိုကဲ့သို့ ပို့ဆောင်ဟောကြားခြင်း) မပြုခဲ့ပါလျှင်၊ အသင်သည် ထို အရှင်မြတ်၏ အကြောင်းကြားချက်များကို ပို့ဆောင် (ဟောကြား) သည် မမည်ချေ။ (တနည်း) နဗီတမန်တော်ဖြစ်ခြင်း၏ တာဝန်ကို ကျေပြွန်စွာ ဆောင်ရွက်သည်မမည်ချေ။

---

(၁) အထက်အောက်မှ (စားသုံးကြရမည်) ဟူသည် လောကီစည်းစိမ်များကို အပြည့်အဝခံစားကြရမည်ဟူလို။ (ကုရ်တုဗီ)။

ဤမုက္ခပါဌ်တော်ကို ထောက်ရှုခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို နာခံခြင်းသည် စားနပ်ရိက္ခာ ပေါများခြင်း၏ အကြောင်းတရပ်ဖြစ်သည်မှာ ထင်ရှားလှပေသည်။ ကြည့် - မဒါရစ်က်၊ မာဂျိဒီ။

(၂) ကိတာဗီများတွင် ဖြောင့်မတ်မှန်ကန်သော လမ်းစဉ်ကို လိုက်နာသူများသည် ရှိကြ၏။ ဥပမာ - ယဟူဒီများအနက် အဗ်ဒုလ္လာဟ် အီဗ်နုစလမ်နှင့် ၎င်း၏ အပေါင်းအဖော်များ၊ နဆွ်ရာနီများအနက် နဂျာရှိဘုရင်နှင့် ၎င်း၏ အပေါင်းအဖေါ်များ။ ကြည့် - ထာနဝီ။

الْكٰفِرِيْنَ ﴿٦٧﴾

စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည် အသင့်အား လူတို့၏ *(ဘေးရန်ခပ်သိမ်းတို့)မှ ထိန်းသိမ်း စောင့်ရှောက်တော် မူမည်ဖြစ်သည်။* ၁ စင်စစ်ဧကန် အလ္လာဟ် အရှင်မြတ်သည် ကာဖိရ် ငြင်းပယ်သောသူတို့အား (အသင့်ကို လာရောက် ဖျက်ဆီးနိုင်ရန်) လမ်းပေးတော်မူမည်မဟုတ်ပေ။

---

(၃) ဤမုကဒ္ဓပါဠ်တော်၏ အလိုသဘောမှာ အသင်သည် မိမိထံ ထုတ်ပြန်ပို့ချသမျှသော အမိန့်ပညတ်အရပ်ရပ်ကို ဟောကြားပါလေဟူ၍ဖြစ်သည်ဟု သာဝကကြီး အီဗ်နု အဗ္ဗါစ်က ဖွင့်ဆိုခဲ့သည်။ (ကုရ်တုဗီ။)

ဤမုကဒ္ဓပါဠ်တော်တွင် တမန်တော်မြတ် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုက်ဟိ ဝစလ္လမ်) အား လူသားအားလုံးတို့ကို ၎င်းတို့နှင့် စပ်လျဉ်း၍ ထုတ်ပြန်ပို့ချတော်မူသော ကျမ်းဂန်နှင့် အမိန့်ပညတ်အရပ်ရပ်တို့ကို ဟောကြားရန်နှင့် တစ်ဦးတစ်ယောက်အား စိုးရိမ်၍သော်၎င်း၊ ငဲ့ညှာ၍ သော်၎င်း အမိန့်ပညတ်တော်များအနက် တစ်စုံတစ်ခုကိုမျှ ထိန်ချန်မထားရန် အမိန့်တော်လာရှိတော်မူ၏။ (ဂျဆွ်ဆွာဆ်)။

(၁) အလ္လာဟ် အရှင်မြတ်သည် တမန်တော်မြတ်အား ရန်သူများ၏ ဘေးရန်အပေါင်းမှ ထိန်းသိမ်း ကာကွယ်တော်မူမည်ဟူသော ဗျာဒိတ်တော်အရ တမန်တော်မြတ်သည် ရန်သူတို့၏ ဘေးရန်အပေါင်းမှ လွတ်မြောက်တော်မူခဲ့၏။

ကာဖိရ်များသည် တမန်တော်မြတ်အား သတ်ဖြတ်ရန်အတွက် အကြိမ်ကြိမ် စစ်မက် ပြိုင်ဆိုင် တိုက်ခိုက်ခဲ့ကြ၏။ တမန်တော်မြတ်နှင့် ကာဖိရ်တို့တွင် ဖြစ်ပွားခဲ့သော စစ်ပွဲများ၌ များသောအားဖြင့် ကာဖိရ်များသည် စစ်သည်တော်များ အားဖြင့်၎င်း၊ လက်နက်အားဖြင့်၎င်း များပြားခဲ့ကြသည်သာ ဖြစ်၏။ ကာဖိရ်တို့သည် တမန်တော်မြတ်အား သတ်ဖြတ်ရန် အမျိုးမျိုးကြိုးစားခဲ့ကြ၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်၏ ထိန်းသိမ်းကာကွယ်မှုကြောင့် ကာဖိရ်များသည် တမန်တော်မြတ်အား အချို့စစ်ပွဲများတွင် အနည်းငယ်မျှ ဒဏ်ရာဖြစ်စေနိုင်ခဲ့ကြသည်မှအပ အသက်ဆုံးပါးအောင်ကား မပြုနိုင်ခဲ့ကြပေ။

'တစ်ရ်မိဇီ' ကျမ်းတွင် ဤသို့လာ၏။ စစ်ပွဲများတွင် ယခင်က တမန်တော်မြတ်အား ကာကွယ် စောင့်ရှောက်ရန် ကိုယ်ရံတော်များ ထားလေ့ရှိခဲ့၏။ ဤဗျာဒိတ်တော် ကျရောက်လာသည့်အခါ တမန်တော်မြတ်က ကိုယ်ရံတော်များကို "အသင်တို့သွားကြကုန်၊ ကျွန်ုပ်တို့ကို အသင်တို့ ကာကွယ်စောင့်ရှောက်ရန် မလိုတော့ပါ။ အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်အား ကာကွယ်စောင့်ရှောက်တော်မူမည် ဖြစ်သည်" ဟု မိန့်ကြားတော်မူလေသည်။ ဤကဲ့သို့ အလ္လာဟ်အရှင်မြတ်အား ယုံကြည်အားထားခြင်းသည် 'ဝဟီ' မရရှိဘဲ အလျင်း မဖြစ်နိုင်ပေ။

ကြည့် – (ထာနဝီ)။

အလ္လာဟ်အရှင်မြတ်သည် အသင့်အား (ရန်သူများ၏) သတ်ဖြတ်ခြင်းမှ ကာကွယ်ထိန်းသိမ်း ထားတော်မူမည်ဖြစ်ရာ ထို (ရန်) သူများသည် အသင့်ကို သတ်ဖြတ်နိုင်ကြမည်မဟုတ်ပေ။ (မအာလင်မ်)။

قُلْ يَٰٓأَهْلَ ٱلْكِتَٰبِ لَسْتُمْ عَلَىٰ
شَىْءٍ حَتَّىٰ تُقِيمُوا۟ ٱلتَّوْرَىٰةَ
وَٱلْإِنجِيلَ وَمَآ أُنزِلَ إِلَيْكُم
مِّن رَّبِّكُمْ ۗ وَلَيَزِيدَنَّ كَثِيرًا
مِّنْهُم مَّآ أُنزِلَ إِلَيْكَ مِن
رَّبِّكَ طُغْيَٰنًا وَكُفْرًا ۖ فَلَا
تَأْسَ عَلَى ٱلْقَوْمِ ٱلْكَٰفِرِينَ ٦٨

၆၈။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) ပြောကြားပါလေ၊ "အို-(ကိတာဗီ) ကျမ်းဂန်ရရှိသူ အပေါင်းတို့၊ အသင်တို့သည် 'တောင်ရာတ်' ကျမ်းကိုဎင်း၊ 'အင်န်ဂျီလ်' ကျမ်းကိုဎင်း၊ အသင်တို့ထံ အသင်တို့၏ အရှင်မြတ်အထံတော်မှ ကျရောက်လာသည့် (ကုရ်အာန်ကျမ်းမြတ်ကို)ကိုဎင်း၊ အတည်လိုက်နာခြင်းမရှိသမျှ ကာလပတ်လုံး အသင်တို့သည် မည်သည့် (မှန်ကန်သော) လမ်းစဉ်ပေါ်၌သာ တည်ရှိကြသည်မဟုတ်ပေ။ [၁]

(ကိတာဗီများသည် မနှစ်မြို့ဘွယ်ဖြစ်သော အယူသန်မှုတွင် နစ်မွန်းလျက်ရှိကြ၏။ သို့ဖြစ်ပေရာ) အသင့်အား မွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ အသင့်ထံသို့ ကျရောက်လာသော (ကုရ်အာန်ကျမ်းမြတ်သည်) ထိုသူတို့အနက် များစွာသောသူတို့၌ ကျူးလွန်မှုကိုဎင်း၊ သွေဖည်ငြင်းပယ်မှုကိုဎင်း၊ အမှန်ပင် များပြားစေမည်ဖြစ်၏။

သို့ဖြစ်ပေရာ အသင်သည် ကာဖိရ် သွေဖည်ငြင်းပယ်သူတို့နှင့် ပတ်သက်၍ ပူပန်သောက မရှိလေနှင့်။

---

(၁) အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်များကို နာခံခြင်းဖြင့်သည်သာလျှင် တစ်ဦးတစ်ယောက်သည် ထိုအရှင်မြတ်၏ အထံတော်တွင် ချဉ်းကပ်နိုင်၏။ မြင့်မြတ်သောဆုလာဒ် ဂုဏ်အင်ဒြဗ်များကို ရရှိနိုင်၏။ သို့ဖြစ်သောကြောင့် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို အစကနဦးကပင် ငြင်းပယ်လျက်ရှိသောသူသည် ထိုအရှင်မြတ်အထံတော်တွင် အသို့လျှင် ချဉ်းကပ်နိုင်အံ့နည်း၊ ကောင်းမြတ်သော ဆုလာဒ်ဂုဏ်အင်ဒြဗ်များကို အသို့လျှင် ရရှိနိုင်အံ့နည်း။

ကိတာဗီများသည် မိမိတို့၏ မြင့်မြတ်ကြောင်းကို အဘယ်သို့ပင် ထုတ်ဖော်ပြောဆိုနေကြသော်လည်း အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ်တော်မူသည့် တောင်ရာတ်၊ အင်န်ဂျီလ်၊ ကုရ်အာန် ကျမ်းဂန်များကို အတိအကျ မလိုက်နာကြသမျှ ကာလပတ်လုံး ထိုသူများသည် မှန်ကန်သော တရားလမ်းစဉ်အပေါ်၌ တည်ရှိနေကြသည်ဟူ၍ကား အလျင်းမဆိုနိုင်ပေ။ ('မာဂျိဒီ' ကို မှီးသည်)

إِنَّ الَّذِينَ آمَنُوا وَالَّذِينَ هَادُوا وَالصَّابِئُونَ وَالنَّصَارَىٰ مَنْ آمَنَ بِاللَّهِ وَالْيَوْمِ الْآخِرِ وَعَمِلَ صَالِحًا فَلَا خَوْفٌ عَلَيْهِمْ وَلَا هُمْ يَحْزَنُونَ ﴿٦٩﴾

၆၉။ စင်စစ်ဧကန် 'မုအ်မင်န်' သက်ဝင် ယုံကြည်သူများသည်၎င်း၊ "ယဟူဒီ"များသည်၎င်း၊ "ဆွာဗီ" များသည်၎င်း၊ ခရစ်ယာန်များသည်၎င်း၊ မည်သူမဆို အလ္လာဟ်အရှင်မြတ်နှင့် နောက်ဆုံးနေ့ကို ယုံကြည်ပြီး ကောင်းမြတ်သော ကိုယ်ကျင့်တရားများကို ဆောက်တည်ခဲ့ပါလျှင်၊ ထိုကဲ့သို့သော သူတို့အဘို့ မည်သည့် စိုးရိမ်မှုမျှမရှိ၊ ၎င်းတို့သည် ပူဆွေးကြမည်လည်း မဟုတ်ပေ။ [၁]

لَقَدْ أَخَذْنَا مِيثَاقَ بَنِي إِسْرَائِيلَ وَأَرْسَلْنَا إِلَيْهِمْ رُسُلًا ۖ كُلَّمَا جَاءَهُمْ رَسُولٌ بِمَا لَا تَهْوَىٰ أَنفُسُهُمْ فَرِيقًا كَذَّبُوا وَفَرِيقًا يَقْتُلُونَ ﴿٧٠﴾

၇၀။ ဧကန်မုချ ငါအရှင်မြတ်သည် "အစ္စရာအီလီ" မျိုးနွယ်တို့ထံမှ ပဋိညာဉ်ကို ယူတော်မူခဲ့၏။ [၂] ၎င်းပြင် ငါအရှင်မြတ်သည် ၎င်းတို့ထံသို့ (များစွာသော) ရစူလ်တမန်တော်များကိုလည်း စေလွှတ်တော်မူခဲ့၏။ မည်သည့်အခါမျိုးမဆို ထိုသူတို့ထံသို့ ရစူလ်တမန်တော် တပါးပါးသည် ထိုသူတို့ မကြိုက် မနှစ်သက်သော အမိန့်ပညတ်တော်ကို ယူဆောင်လာခဲ့သည်ရှိသော်၊ ထိုသူတို့သည် အချို့ (ရစူလ်တမန်တော်များ) ကို မုသာဝါဒီများဟူ၍ ပြောဆို ငြင်းပယ်ခဲ့ကြ၏။ အချို့တမန်တော်များကိုမူ သတ်ဖြတ်ခဲ့ကြ၏။

---

(၁) ဤမုက္ခပါဠ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် လူသားအားလုံးတို့အား ထာဝစဉ် ငြိမ်းချမ်းရေး၏ လမ်းစဉ်ကြီးကို မိန့်ကြားထားတော်မူသည်။

'မွတ်စ်လင်မ်' ခေါ်တွင်သူဖြစ်စေ၊ ယဟူဒီဖြစ်စေ၊ ဆွာဗီဖြစ်စေ၊ နဆွ်ရာနီဖြစ်စေ၊ အခြား မည်သူပင်ဖြစ်စေ၊ ထိုထို ဤဤအမည်၊ မျိုးနွယ်၊ အသွေးအရောင်၊ အလုပ်အကိုင်၊ တိုင်းပြည် ---- စသည့် အရာများကြောင့် မှန်ကန်သော ထာဝစဉ် အောင်မြင်မှုကို ရရှိနိုင်ကြမည်မဟုတ်ပေ။ ထာဝစဉ် ငြိမ်းချမ်းရေး လမ်းစဉ်ကား တစ်ခုတည်းပင်ရှိ၏။ ထိုလမ်းစဉ်ကား 'အီမာန်' ယုံကြည်ခြင်း သဒ္ဓါတရားနှင့် ကောင်းမြတ်သော ကိုယ်ကျင့်တရား ပင်ဖြစ်၏။ မည်သည့်မျိုးနွယ်ပင်ဖြစ်ဖြစ်၊ မည်သည့်နိုင်ငံသားပင်ဖြစ်ဖြစ်၊ မည်သည့်အုပ်စုမှပင်ဖြစ်ဖြစ်၊ မည်သည့်အသွေးအရောင်ပင် ရှိသည်ဖြစ်စေ၊ အယုတ်၊ အလတ်အမြတ်မရွေး၊ ဖြူ-နက် မခြား၊ လူတန်းစားမရွေးမည်သူပင် ဖြစ်စေကာမူ 'အီမာန်' ယုံကြည်ခြင်း သဒ္ဓါတရားထားရှိ၍ အစ္စလာမ်တရားတော်နှင့်အညီ ကောင်းမြတ်သောကိုယ်ကျင့်တရားများကိုဆောက်တည်ပါမူ ထိုသူသည် ငရဲမီးဘေးမှ လွတ်မြောက်ပေမည်၊ မုချအောင်မြင်ပေမည်။ ထိုသူ့အဘို့ စိုးရိမ်စရာ ပူပင်စရာဟူ၍ အလျင်းမရှိချေ။ ➢➢

وَحَسِبُوْٓا اَلَّا تَكُوْنَ فِتْنَةٌ فَعَمُوْا وَصَمُّوْا ثُمَّ تَابَ اللّٰهُ عَلَيْهِمْ ثُمَّ عَمُوْا وَصَمُّوْا كَثِيْرٌ مِّنْهُمْ ؕ وَاللّٰهُ بَصِيْرٌۢ بِمَا يَعْمَلُوْنَ ۝٧١

၇၁။ ထိုမျှမကသေးချေ။ ၎င်းတို့သည် (ယင်းကဲ့သို့ ရစူလ်တမန်တော်များကို ငြင်းပယ်ခြင်းနှင့် သတ်ဖြတ်ခြင်းအားဖြင့် မိမိတို့၌) ဘေးဥပဒ် အန္တရာယ် တစ်စုံတစ်ရာမျှ ဆိုက်ရောက်လိမ့်မည်မဟုတ် ဟူ၍ပင် ထင်မြင်ယူဆခဲ့ကြလေသည်။ သို့ဖြစ်သောကြောင့် ထိုသူတို့သည် မျက်စိစုံလုံး ကန်းခဲ့ကြလေသည်၊ နားပင်းခဲ့ကြလေသည်။ ထို့နောက်တဖန် အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့ဘက်သို့ (မိမိ) ကရုဏာတော်နှင့် ပြန်လှည့်တော်မူ၍ (၎င်းတို့အား အပြစ်မှ ချမ်းသာပေးသနားတော်မူ) ခဲ့လေ၏။ ထို့နောက်သော်မှပင် ယင်းသူတို့အနက် များစွာသောသူတို့သည် မျက်စိစုံလုံးကန်းသူများနှင့် နားပင်းသူများပင် ဖြစ်သွားကြပြန်သည်။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ကျင့်မူသမျှတို့ကို အကြွင်းမဲ့ သိမြင်တော်မူသော အရှင်မြတ်ပေတည်း။

➤➤ သို့ဖြစ်ပေရာ လူသား အားလုံးတို့သည် ဤ မှတ်ကျောက်ပေါ်တွင် မိမိကိုယ်ကို တင်၍ ကြည့်အပ်ပေသည်။

(၂) အလ္လာဟ်အရှင်မြတ်သည် အစ္စရာအီလီ မျိုးနွယ်များထံမှ နဗီတမန်တော်များအား ယုံကြည်မြတ်နိုး၍ ကူညီရိုင်းပင်းရန် ပဋိညာဉ် ယူထားတော်မူခဲ့၏။ ထိုပဋိညာဉ်ကို သတိရစိမ့်သောငှါ ၎င်းတို့ထံသို့ နဗီတမန်တော် အမြောက်အမြား စေလွှတ်တော်မူခဲ့၏။

သို့ရာတွင် အစ္စရာအီလီ မျိုးနွယ်များသည် မိမိတို့ ကြိုက်နှစ်သက်သော အရာကိုသာ လိုက်နာပြုလုပ်လိုကြ၏။ မိမိတို့ မကြိုက်မနှစ်သက်သော အရာကိုကား မလိုက်နာ မပြုလုပ်လိုကြပေ။ ထို့အတွက်ကြောင့်လည်း အစ္စရာအီလီ မျိုးနွယ်များသည် မိမိတို့ မကြိုက် မနှစ်သက်သော အရာကို ဟောကြားသော နဗီတမန်တော်များအား အချို့ကို မုသာဝါဒီများ လူလိမ်များဟူ၍ စွပ်စွဲပြောဆိုခဲ့ကြလေသည်။ အချို့ကိုမူ သတ်ဖြတ်ခဲ့ကြလေသည်။ အလ္လာဟ်အရှင်မြတ် စေလွှတ်တော်မူလိုက်သော နဗီတမန်တော်များအား မဟုတ်မလျား ပြောဆိုခြင်း၊ သတ်ဖြတ်ခြင်းသည် ထိုအရှင်မြတ်အား မထီလေးစားပြုခြင်း၊ ပုန်ကန်ခြင်းပင် ဖြစ်သည်။ ဤသို့အားဖြင့် အစ္စရာအီလီမျိုးနွယ်များသည် မိမိတို့၏ ပဋိညာဉ်ကို မိမိကိုယ်တိုင် ဖောက်ဖျက်၍ ထာဝစဉ် ငြိမ်းချမ်းရေးလမ်းစဉ်ကိုလည်း ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်ခဲ့ကြပေသည်။

لَقَدْ كَفَرَ الَّذِينَ قَالُوٓا۟ إِنَّ ٱللَّهَ هُوَ ٱلْمَسِيحُ ٱبْنُ مَرْيَمَ ۖ وَقَالَ ٱلْمَسِيحُ يَٰبَنِىٓ إِسْرَٰٓءِيلَ ٱعْبُدُوا۟ ٱللَّهَ رَبِّى وَرَبَّكُمْ ۖ إِنَّهُۥ مَن يُشْرِكْ بِٱللَّهِ فَقَدْ حَرَّمَ ٱللَّهُ عَلَيْهِ ٱلْجَنَّةَ وَمَأْوَىٰهُ ٱلنَّارُ ۖ وَمَا لِلظَّٰلِمِينَ مِنْ أَنصَارٍ ۝٧٢

၇၂။ မလွဲဧကန် ကာဖစ်ရ် ဖြစ်သွားကြသော သူတို့က "ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် 'မရ်ယမ်' ၏သားတော် 'မစီဟ်' (အီစာ)ပင် ဖြစ်တော်မူသည်" ဟု ပြောဆိုခဲ့ကြကုန်၏။ အမှန်သော်ကား "မစီဟ်" (ကိုယ်တိုင်)ကပင် "အို - အစ္စရာအီလီ မျိုးနွယ်အပေါင်းတို့ အသင်တို့သည် ငါ၏အရှင်နှင့်၊ အသင်တို့၏ အရှင် ဖြစ်တော်မူသော အလ္လာဟ် အရှင်မြတ်ကိုပင် ခဝပ်ကိုးကွယ် ကြလေကုန်ဟု ပြောဆိုခဲ့လေသည်။ [၁]

စင်စစ်ဧကန် မည်သူမဆို (တစ်စုံတစ်ရာကို) အလ္လာဟ်အရှင်မြတ်နှင့် တွဲဘက် (ကိုးကွယ်)ပါလျှင်၊ အလ္လာဟ်အရှင်မြတ်သည် ထို(ကဲ့သို့သော) သူ၏ အဘို့ 'ဂျန္နတ်' အမတ သုခဘုံကို မုချဧကန် ပိတ်ပင် ထားတော်မူအံ့။ ၎င်းပြင် ထိုသူ၏ လားရာဌာနသည် ငရဲမီးပင် ဖြစ်လတ္တံ့။ ထိုမှတပါး (ယင်းကဲ့သို့) မတရားကျူးလွန်သော သူတို့အား ရိုင်းပင်း ကူညီ စောင်မမည့် သူဟူ၍ကား တစ်စုံတစ်ယောက်မျှ ရှိလိမ့်မည်မဟုတ်ပေ"။

---

(၁) အထက်တွင် ယဟူဒီများ၏ 'အီမာန်' ယုံကြည်မှု တိမ်းပါးခဲ့သည့်အကြောင်းပါရှိ၏။ ဤမုကဒ္ဒပါဌ်တော် (၅း ၇၂-၇၃) တွင် နဆွ်ရာနီများ၏ အီမာန်ယုံကြည်မှုမှားယွင်းခဲ့သည့်အကြောင်းကို မိန့်ဆိုထားတော်မူသည်။

တမန်တော်အီစာ (အလိုင်ဟစ္စလာမ်) က မိမိသည် အခြားလူသားများကဲ့သို့ လူသားတစ်ဦးမျှ ဖြစ်၍ အလ္လာဟ်အရှင်မြတ်၏ အစေတော်သာလျှင် ဖြစ်ကြောင်း၊ အလ္လာဟ်အရှင်မြတ်သည်သာလျှင် တစ်ဆူတည်းသော ခဝပ်ကိုးကွယ်ရာ အရှင်ဖြစ်တော်မူကြောင်း အတည့်အလင်း ထုတ်ဖော်ပြောဆိုခဲ့ပါလျက်နှင့်ပင် နဆွ်ရာနီများက "မရ်ယမ်၏သား မစီဟ်သည် အလ္လာဟ်အရှင်မြတ်ပင် ဖြစ်သည်" ဟူ၍၎င်း၊ "အလ္လာဟ်အရှင်မြတ်သည် ဘုရားသုံးဆူတွင် တတိယဘုရားဖြစ်တော်မူသည်" ဟူ၍၎င်း မဟုတ်မလျော် ယူဆပြောဆိုခဲ့ကြလေသည်။ ယင်းသို့ ပြောဆိုခြင်းသည် "ကုဖ်ရ်" ဖြစ်၏။

لَقَدْ كَفَرَ الَّذِيْنَ قَالُوْٓا اِنَّ اللّٰهَ ثَالِثُ ثَلٰثَةٍ ۘ وَمَا مِنْ اِلٰهٍ اِلَّآ اِلٰهٌ وَّاحِدٌ ۗ وَاِنْ لَّمْ يَنْتَهُوْا عَمَّا يَقُوْلُوْنَ لَيَمَسَّنَّ الَّذِيْنَ كَفَرُوْا مِنْهُمْ عَذَابٌ اَلِيْمٌ ﴿٧٣﴾

၇၃။ ဧကန်အမှန် အကြင်သူ တို့သည်လည်း ကာဖိရ်များပင် ဖြစ်သွားခဲ့ကြကုန်၏။ ထိုသူများက "အမှန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် (ဘုရား) သုံးဆူအနက် တတိယ(ဘုရား)ဖြစ်သည်" ဟူ၍ ပြောဆိုခဲ့ကြကုန်၏။ အမှန်သော်ကား တစ်ဆူတည်းသော ကိုးကွယ်ရာ (အလ္လာဟ်အရှင်)မြတ်မှတပါး အခြားကိုးကွယ်ရာ (ဘုရား)ဟူ၍ အလျင်းမရှိချေ။

အကယ်၍သာ ယင်းသူတို့သည် မိမိတို့ ပြောဆိုမှုကို မရပ်စဲကြသော် ၎င်းတို့အနက်မှ ဆက်လက်၍ သွေဖည်ငြင်းပယ်ကြသော သူတို့၌ ပြင်းပြနာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်သည် မုချ ဆိုက်ရောက်ပေမည်။

اَفَلَا يَتُوْبُوْنَ اِلَى اللّٰهِ وَيَسْتَغْفِرُوْنَهٗ ۗ وَاللّٰهُ غَفُوْرٌ رَّحِيْمٌ ﴿٧٤﴾

၇၄။ ယင်းသူတို့သည် အလ္လာဟ် အရှင်မြတ် အထံတော်ဝယ် ဝန်ချ တောင်းပန်ခြင်း ကိုငှ်း၊ ထို အရှင်မြတ် အထံတော်မှ လွတ်ငြိမ်း ချမ်းသာခွင့် အသနားခံခြင်းကိုငှ်း၊ မပြုကြလေသလော။ စင်စစ် တမူကား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာမျှ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ အလွန်တရာမျှ သနားကြင်နာ ညှာတာတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူချေသတည်း။

مَا الْمَسِيْحُ ابْنُ مَرْيَمَ اِلَّا رَسُوْلٌ ۚ قَدْ خَلَتْ مِنْ قَبْلِهِ الرُّسُلُ ۗ وَاُمُّهٗ صِدِّيْقَةٌ ۗ كَانَا يَاْكُلٰنِ

၇၅။ "မရ်ယမ်" ၏သားတော် "မစီဟ်" သည် ရစူလ် *တမန်တော်တပါးမျှသာ ဖြစ်၏။* [၁] ထို "မရ်ယမ်" ၏သားတော် "မစီဟ်" (အီစာ)၏အလျင်လည်း (အခြားသော) ရစူလ်တမန်တော်တို့သည် မုချ ပွင့်ခဲ့ကြလေသည်။

---

၁ တမန်တော် အီစာ (အလိုင်ဟစ္စလာမ်) သည် အလ္လာဟ်အရှင်မြတ် မဟုတ်ကြောင်း၊ ဘုရားသုံးဆူပေါင်းတွင် တပါးအပါဝင်လည်း မဟုတ်ကြောင်းကို ဤမုကွ္ဒပါဠ်တော်တွင် သက်သေသာဓက ကျိုးကြောင်းပြ၍ ➤➤

الطَّعَامَ انْظُرْ كَيْفَ نُبَيِّنُ لَهُمُ الْآيٰتِ ثُمَّ انْظُرْ اَنّٰى يُؤْفَكُوْنَ ۝٧٥

ငှင်းပြင် ထို "မစီဟ်" (အီစာ)၏မယ်တော် (မရ်ယမ်)သည် သစ္စာသမာဓိနှင့် အထူးပြည့်စုံသော *မိန်းမမြတ်တစ်ဦးပင် ဖြစ်ချေသည်။* ၁ ထို(သားအမိ) နှစ်ဦးလုံးသည် (အခြား လူသားများ ကဲ့သို့ပင်) *အစာအဟာရကို စားသုံးလေ့ရှိခဲ့ကြ၏။* ၂

(အို- နဗီတမန်တော်) ငါအရှင်မြတ်သည် ထို(ခရစ်ယာန်)တို့ရှေ့ဝယ် သက်သေသာဓကများကို မည်ကဲ့သို့ ရှင်းလင်း ဖော်ပြတော်မူသည်ကို အသင် ရှုပါလေ။ ထို့နောက် တဖန် ယင်းသူတို့သည် (မှန်ကန်သော တရားလမ်းစဉ်ကိုစွန့်၍) အဘယ်သို့ ပြန်လှည့်သွားကြ သည်ကိုလည်း အသင်ရှုပါလေ။

---

➤➤ မိန့်ဆိုထားတော်မူသည်။

တမန်တော် အီစာ(အလိုင် ဟစ္စလာမ်)သည် တမန်တော်တပါးမျှဖြစ်၏။ တမန်တော်အီစာ (အလိုင်ဟစ္စလာမ်)အလျင်ကလည်း မြောက်မြားစွာသော တမန်တော်များပွင့်ခဲ့ကြ၏။ တမန်တော်ဖြစ်ခြင်း၊ တန်ခိုးပြာဋိဟာ ပြခြင်းသည် ဘုရားဖြစ်ခြင်း၏သာဓကမဟုတ်ပေ။ တမန်တော်ဖြစ်ခြင်းကို အကြောင်းပြု၍ တမန်တော် အီစာ(အလိုင်ဟစ္စလာမ်)အား ဘုရားဟုဆိုလျှင် ပွင့်လေပြီးကုန်သော တမန်တော်များအားလည်း ဘုရားဟု ဆိုရပေမည်။ သို့ဖြစ်ရာ တမန်တော်အီစာ(အလိုင်ဟစ္စလာမ်)သည် အသို့လျှင် ဘုရားဖြစ်နိုင်အံ့နည်း။

① တမန်တော် အီစာ(အလိုင်ဟစ္စလာမ်)၏ မိခင် မရ်ယမ်သခင်မသည် မှန်ကန်သောစကားကို ပြောဆိုသူဖြစ်၏။ သူတော်စင်မတစ်ဦးမျှဖြစ်၏။ နဗီလည်းမဟုတ်ပေ၊ ဘုရားလည်းမဟုတ်ပေ။ နဗီဂုဏ်ထူးကို ယောကျ်ားများသာလျှင် ချီးမြှင့်ခြင်း ခံခဲ့ကြရပေသည်။ ကြည့်-ကုရ်အာန် (၁၂း ၁၀၉)။ မရ်ယမ်သခင်မ အလျင်ကလည်း သူတော်ကောင်း အမျိုးသမီးများ အများအပြား ထွန်းကားခဲ့ကြ၏။ သူတော်ကောင်း မဖြစ်ခြင်းသည် ဘုရားဖြစ်ခြင်း၏ သာဓက မဟုတ်ပေ။ သူတော်ကောင်း မဖြစ်သည်ကို အကြောင်းပြု၍ မရ်ယမ်သခင်မအား ဘုရားဟုဆိုလျှင် ကျန်သူတော်ကောင်းမများအားလည်း ဘုရားဟူ၍ ဆိုရပေလိမ့်မည်။ သို့ဖြစ်ပေရာ မရ်ယမ်သခင်မသည် အသို့လျှင် ဘုရားဖြစ်နိုင်အံ့နည်း။ ကြည့် - ထာနဝီ၊

② တမန်တော် အီစာ (အလိုင်ဟစ္စလာမ်) နှင့် မယ်တော် မရ်ယမ်သခင်မတို့ သားအမိ ၂-ဦးတို့သည် အခြားလူသားများကဲ့သို့ပင် အစာအဟာရကို မှီဝဲစားသုံးခဲ့ကြရ၏။ အစာအဟာရကို မှီဝဲစားသုံးရခြင်းသည် သခ်ီရသော၊ ပျက်စီးခြင်းသဘောပင်ဖြစ်၏။ မုချ ကိုးကွယ်ခြင်း ခံထိုက်တော်မူသော ဘုရား၏ ဂုဏ်ပုဒ်တရပ်မှာ နိစ္စထာဝရဖြစ်၏။ ပျက်စီးခြင်း သဘောတရားသည် နိစ္စထာဝရနှင့် လုံးဝဆန့်ကျင်၏။ သို့ဖြစ်ပေရာ ပျက်စီးခြင်းတရားနှင့် မကင်းနိုင်သော တမန်တော် အီစာ(အလိုင်ဟစ္စလာမ်)နှင့် မယ်တော် မရ်ယမ်သခင်မတို့သည် အသို့လျှင် ထာဝရ ဘုရားဖြစ်နိုင်ကြအံ့နည်း။ ကြည့် - ထာနဝီ။

قُلْ أَتَعْبُدُونَ مِن دُونِ اللَّهِ
مَا لَا يَمْلِكُ لَكُمْ ضَرًّا وَلَا نَفْعًا ۚ
وَاللَّهُ هُوَ السَّمِيعُ الْعَلِيمُ ﴿٧٦﴾

၇၆။ (အို-နဗီတမန်တော်) အသင်သည် (ခရစ်ယာန်တို့အား ဤသို့) ပြောကြားပါလေ။ (ဟယ်-အချင်းတို့) အသင်တို့သည် အလ္လာဟ် အရှင်မြတ်မှ တပါး အသင်တို့အား အကျိုးယုတ် နစ်နာစေခြင်းကိုဇင်း၊ အကျိုး ဖြစ်ထွန်းစေခြင်းကိုဇင်း၊ *မပြုစွမ်းနိုင်ကြသောအရာများကို ကိုးကွယ်ဆည်းကပ် ကြလေသလော။* [၁] အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည်သာလျှင် (အလုံးစုံတို့ကို) အကြွင်းမဲ့ကြားသိတော်မူသောအရှင် (အရာခပ်သိမ်း တို့ကို) *အကြွင်းမဲ့ သိရှိတော်မူသောအရှင် ဖြစ်တော်မူလေသတည်း။* [၂]

قُلْ يَا أَهْلَ الْكِتَابِ لَا تَغْلُوا
فِي دِينِكُمْ غَيْرَ الْحَقِّ وَلَا
تَتَّبِعُوا أَهْوَاءَ قَوْمٍ
قَدْ ضَلُّوا مِن قَبْلُ
وَأَضَلُّوا كَثِيرًا وَضَلُّوا
عَن سَوَاءِ السَّبِيلِ ﴿٧٧﴾

၇၇။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) ပြောကြားပါလေ။ အို-'ကိတာဗီ' ရှေးအထက်ကျမ်းဂန်ရရှိသူ အပေါင်းတို့ အသင်တို့သည် မိမိတို့၏'ဒီန်'ဘာသာ သာသနာရေးတွင် (စည်းကမ်းသတ်မှတ် ထားသည်ထက်) အလွန်အကျွံ မဖြစ်ကြကုန်လင့်။ ၎င်းပြင် အသင်တို့သည် အကြင်သူတို့၏ အလိုဆန္ဒများကိုလည်း မလိုက်စားကြကုန်လင့်။ ထိုသူတို့သည် အထက်ကျော်ကာရီက (မိမိတို့ကိုယ်တိုင်) လမ်းမှားသို့ ရောက်ရှိခဲ့ကြသည် သာမက၊ များစွာသော သူတို့ကိုလည်း လမ်းမှားစေခဲ့ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် ဖြောင့်မတ်မှန်ကန်သော (တရားမှန်ကို သိကြပါလျက်နှင့်ပင်) တရားလမ်းတော်မှ ချွတ်ချော်တိမ်းပါးခဲ့ကြသတည်း။

---

(၁) နဆွ်ရာနီများသည် တစ်ဆူတည်းဖြစ်သော၊ အနန္တ တန်ခိုးတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်မှ တပါးတစ်စုံတစ်ရာ မစွမ်းဆောင်နိုင်သောအရာကို ဆည်းကပ်ကိုးကွယ်ကြ၏။ မစွမ်းဆောင်နိုင်မှုသည်ပင် ထာဝရဘုရား၏ ဂုဏ်အင်္ဂါနှင့် လုံးဝဆန့်ကျင်လျက် ရှိပေသည်။ ဤသည့်အချက်ကိုပင် ဤမုကဒ္ဒပါဠ်တော်တွင် မိန့်ဆိုထားတော်မူသည်။

لُعِنَ الَّذِينَ كَفَرُوا مِن بَنِي
إِسْرَآءِيلَ عَلَىٰ لِسَانِ دَاوُۥدَ
وَعِيسَى ابْنِ مَرْيَمَ ۚ ذَٰلِكَ بِمَا
عَصَوا وَّكَانُوا يَعْتَدُونَ ﴿٧٨﴾

၇၈။ အစ္စရာအီလီ မျိုးနွယ်တို့အနက်မှ "ကာဖိရ်" သွေဖည် ငြင်းပယ်ကြကုန်သော သူတို့မှာမူ (နဗီတမန်တော်) "ဒါဝူဒ်" နှင့် "မရ်ယမ်" (သခင်မ) ၏သားတော်၊ (နဗီတမန်တော်) "အီစာ" ၏ နှုတ်မှ တဆင့် ကျိန်ဆဲခြင်း ခံခဲ့ကြရ၏။ ယင်းကဲ့သို့ ဘေးသင့်ခဲ့ကြရခြင်းမှာ ၎င်းတို့သည် သွေဖည်ခဲ့ကြသည့်ပြင် အမြဲတစေ စည်းကမ်းဖောက်ဖျက် ကျူးလွန်လေ့ရှိခြင်းကြောင့်ပင်တည်း။

كَانُوا لَا يَتَنَاهَوْنَ عَن
مُّنكَرٍ فَعَلُوهُ ۚ لَبِئْسَ مَا
كَانُوا يَفْعَلُونَ ﴿٧٩﴾

၇၉။ ထိုသူတို့သည် မိမိတို့ ပြုကျင့်ခဲ့ကြသော မကောင်းမှု ဒုစရိုက်မှ အချင်းချင်း တစ်ဦးကိုတစ်ဦး ပိတ်ပင် မြစ်တားလေ့ မရှိခဲ့ကြပေ။ စင်စစ်ကေန် ၎င်းတို့ပြုကျင့်လေ့ ရှိခဲ့ကြကုန်သော အပြုအမူတို့သည် ဆိုးယုတ် သိမ်ဖျင်းလှပေစွတကား။

تَرَىٰ كَثِيرًا مِّنْهُمْ يَتَوَلَّوْنَ
الَّذِينَ كَفَرُوا ۚ لَبِئْسَ مَا قَدَّمَتْ
لَهُمْ أَنفُسُهُمْ أَن سَخِطَ اللَّهُ
عَلَيْهِمْ وَفِي الْعَذَابِ هُمْ
خَالِدُونَ ﴿٨٠﴾

၈၀။ (အို-နဗီတမန်တော်) ၎င်းတို့အနက် "ကာဖိရ်" သွေဖည်ငြင်းပယ်သော သူတို့အား အဆွေခင်ပွန်းများ ပြုလုပ်ကြသူ အမြောက်အမြားကို အသင်သည် တွေ့မြင်ရပေအံ့။ [၁] အမှန်စင်စစ် ၎င်းတို့က မိမိတို့ ကိုယ်တိုင် မိမိတို့အတို့ တင်ကြို၍ ပို့ထားနှင့်ကြကုန်သောအပြုအမူတို့သည် ယုတ်ညံ့ သိမ်ဖျင်းလှပေသည်။ (ထို့အတွက်ကြောင့်ပင်) အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အပေါ်ဝယ် အမျက်တော်ထားတော်မူခဲ့လေသည်။ ထို့ပြင် ၎င်းတို့သည် ထာဝစဉ် အပြစ်ဒဏ်၌ နေထိုင်ကြရမည်။

(၂) အလ္လာဟ်အရှင်မြတ်သည် အသင်တို့၏ ဆုပန်ကြားချက်များနှင့် ပြောဆိုချက်ဟူသမျှတို့ကို အကြွင်းမဲ့ကြားသိတော်မူသောအရှင်၊ အသင်တို့၏ လိုအင်ဆန္ဒများနှင့် အဖြစ်အပျက် ဟူဟူသမျှတို့ကိုလည်း အကြွင်းမဲ့သိတော်မူသောအရှင် ဖြစ်တော်မူပေရာ ထိုအရှင်မြတ်ကိုသာလျှင် ခဝပ်ကိုးကွယ်ကြရပေမည်။ ထိုအရှင်မြတ်မှတပါး အခြားမည်သည့်အရာကိုမျှ မကိုးကွယ်အပ်ပေ။ ကြည့် - (အလ်မနာရ်)။

(၁) တမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ လက်ထက်တော်ရှိ ယဟူဒီများသည် ➤➤

وَلَوْ كَانُوْا يُؤْمِنُوْنَ بِاللّٰهِ وَالنَّبِيِّ وَمَآ اُنْزِلَ اِلَيْهِ مَا اتَّخَذُوْهُمْ اَوْلِيَآءَ وَلٰكِنَّ كَثِيْرًا مِّنْهُمْ فٰسِقُوْنَ ﴿٨١﴾

၈၁။ အကယ်၍ ထိုသူတို့သည် အလ္လာဟ် အရှင်မြတ်ကိုင်၊ နဗီ တမန်တော်မြတ် ကိုင်၊ ထို နဗီ တမန်တော်မြတ်ထံသို့ ကျရောက်လာသည့် (ကျမ်းတော်မြတ် ကုရ်အာန်)ကိုင်၊ သက်ဝင် ယုံကြည်ကြပါလျှင်၊ ထို ("ကာဖိရ်" သွေဖည် ငြင်း ပယ်သော) သူတို့အား အဆွေခင်ပွန်းများ ပြုလုပ် ကြမည် မဟုတ်ပေ။ သို့ရာတွင် ယင်းသူတို့အနက် များစွာသော သူတို့မှာကား (အမိန့်ကို ဖီဆန်သော သူများပင် ဖြစ်ကြကုန်သတည်း၊) (အီမာန်၏ အပြင် ဘက်သို့ ရောက်ရှိနေသူများပင် ဖြစ်ကြ၏။)

لَتَجِدَنَّ اَشَدَّ النَّاسِ عَدَاوَةً لِّلَّذِيْنَ اٰمَنُوا الْيَهُوْدَ وَالَّذِيْنَ اَشْرَكُوْا ۚ وَلَتَجِدَنَّ اَقْرَبَهُمْ مَّوَدَّةً لِّلَّذِيْنَ اٰمَنُوا الَّذِيْنَ قَالُوْٓا اِنَّا نَصٰرٰى ؕ ذٰلِكَ بِاَنَّ مِنْهُمْ قِسِّيْسِيْنَ وَرُهْبَانًا وَّاَنَّهُمْ لَا يَسْتَكْبِرُوْنَ ﴿٨٢﴾

၈၂။ (အို-နဗီတမန်တော်) အသင်သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သော သူတို့ကို ရန်ငြိုးထားရာ၌ လူသားများအနက် ယဟူဒီတို့နှင့် "မုရှ်ရစ်က်" တို့ကို အပြင်းအထန်ဆုံးသော သူများအဖြစ် တွေ့ရှိရလတ္တံ့။ ၎င်းပြင် အသင်သည် "မုအ်မင်န်" သင်ဝင်ယုံကြည် သောသူတို့ကို မိတ်ဖွဲ့ရာ၌ ထိုလူသားများအနက် အနီးစပ်ဆုံးသော သူများအဖြစ် (မိမိတို့ ကိုယ်ကို) "ကျွန်ုပ်တို့သည် 'နဆွာရာ' များဖြစ်ကြသည်" ဟု ပြောဆိုကြကုန်သောသူတို့အား တွေ့ရှိရပေအံ့။

အဘယ်ကြောင့် ဆိုသော် ထိုသူတို့တွင် ပညာရှင်များနှင့် ဘုန်းကြီးရဟန်းများ ရှိနေကြသော ကြောင့်၎င်း၊ ထိုသူတို့သည် မာန်မာနထောင်လွှားခြင်း လည်း မရှိကြသောကြောင့်၎င်း၊ ဖြစ်ချေသည်။

➤➤ တမန်တော်မြတ်အား မလိုမုန်းထားခဲ့ကြသည့်အတွက် အရဗ် ကာဖိရ်မုရှ်ရစ်က်တို့နှင့်ပင်လျှင် မိတ်ဖွဲ့ခဲ့ပြီး အစ္စလာမ် သာသနာကို ဖျက်ဆီးနိုင်ရန် အမျိုးမျိုး ကြံပမ်း အားထုတ်ခဲ့ကြလေသည်။ ဤကားရာဇဝင် အထင်အရှားပင်။ ကြည့်-မာဂျိဒီ။

وَإِذَا سَمِعُوا مَا أُنْزِلَ إِلَى الرَّسُولِ تَرَى أَعْيُنَهُمْ تَفِيضُ مِنَ الدَّمْعِ مِمَّا عَرَفُوا مِنَ الْحَقِّ ۚ يَقُولُونَ رَبَّنَا آمَنَّا فَاكْتُبْنَا مَعَ الشَّاهِدِينَ ﴿٨٣﴾

၈၃။ ၎င်းပြင် ယင်းသူတို့သည် ရစူလ်တမန်တော် (မုဟမ္မဒ်)၏ထံသို့ ကျရောက်လာသော မုကျွပါဠ် တော်များကို ကြားနာကြရသောအခါ (ထိုမုကျွပါဠ် တော်များအားဖြင့်) အမှန်ကို သိမြင်လာကြသော ကြောင့်၊ ၎င်းတို့၏ မျက်စိများမှ မျက်ရည်များ ယိုစီးလျက် ရှိသည်ကို အသင်တွေ့မြင်ရလတ္တံ့။ (၎င်းပြင်) ယင်းသူတို့က "အို - ကျွန်တော်မျိုးတို့အား မွေးမြူတော်မူသောအရှင်၊ ကျွန်တော်မျိုးတို့သည် ယုံကြည်ပါပြီ၊ သို့ဖြစ်ပေရာ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အားလည်း ယုံကြည် ထောက်ခံ သက်သေထွက်ဆိုသော သူတို့နှင့်အတူ အသိအမှတ် ပြုတော်မူပါ" ဟု လျှောက်ထား ပန်ကြား ကြကုန် သတည်း။

وَمَا لَنَا لَا نُؤْمِنُ بِاللَّهِ وَمَا جَاءَنَا مِنَ الْحَقِّ وَنَطْمَعُ أَنْ يُدْخِلَنَا رَبُّنَا مَعَ الْقَوْمِ الصَّالِحِينَ ﴿٨٤﴾

၈၄။ ထို့ပြင်တဝ ယင်းသူတို့က "ကျွန်ုပ်တို့သည် မိမိတို့အား မိမိတို့၏အရှင်မြတ်က (ကောင်းမြတ် သောအကျင့်သီလများကို ဆောက်တည်ကြကုန်သော) သူတော်စင် သူတော်ကောင်းတို့ အတွင်း၌ ပါဝင်စေ တော်မူမည်ဟု မြော်လင့်ချက် ထားရှိကြသည်ဖြစ်ရာ ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်အား၎င်း၊ (ယခု) ကျွန်ုပ်တို့ထံဝယ် ရောက်ရှိလာသော အမှန်တရားကို ၎င်း၊ မယုံကြည်ကြရန် မည်သည့်အကြောင်းမျှ မရှိတော့ပြီ" (ဟူ၍လည်း ပြောဆိုကြကုန်သတည်း)။

**တနည်း**

၎င်းပြင် (ထိုသူတို့က) ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်အား၎င်း၊ ကျွန်ုပ်တို့ထံ ရောက်ရှိ လာသော အမှန်တရားကို၎င်း၊ မယုံကြည်ကြရန် အကြောင်းမရှိပါ၊ အမှန်စင်စစ်သော်ကား ကျွန်ုပ်တို့

သည် မိမိတို့အား မိမိတို့၏အရှင်က သူတော်စင်တို့တွင် အပါအဝင်ဖြစ်စေတော်မူမည်ကို မျှော်လင့်လျက်ရှိကြပါသည် (ဟု ပြောဆိုကြ၏)။

فَاَثَابَهُمُ اللّٰهُ بِمَا قَالُوْا جَنّٰتٍ تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ خٰلِدِيْنَ فِيْهَا وَذٰلِكَ جَزَآءُ الْمُحْسِنِيْنَ ﴿٨٥﴾

၈၅။ သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်သည်၊ ထိုသူတို့အား ထိုသူတို့၏(ထိုသို့ဝန်ခံ) ပြောဆိုခဲ့ကြသည့်အတွက်ကြောင့် အကြင်ဥယျာဉ်များကို အစားပေးတော်မူအံ့။ ထိုဥယျာဉ်များ၏အောက်၌ စမ်းရေချောင်းများသည်စီးဆင်းလျက်ရှိမည်။ ၎င်းတို့သည်ထိုဥယျာဉ်များ၌ထာဝစဉ်နေထိုင်ကြမည်။ ဤသည်ကား ကောင်းမြတ်သောအကျင့်သီလများကို ဖြည့်ကျင့်ဆည်းပူးကြလေသော သူတော်ကောင်းတို့၏အကျိုးပင်တည်း။

وَالَّذِيْنَ كَفَرُوْا وَكَذَّبُوْا بِاٰيٰتِنَآ اُولٰٓئِكَ اَصْحٰبُ الْجَحِيْمِ ﴿٨٦﴾

၈၆။ သို့ရာတွင် အကြင်သူများသည် သွေဖည်ငြင်းပယ် နေခဲ့ကြ၏။ ၎င်းပြင် ထိုသူများသည် ငါအရှင်မြတ်၏ ဒေသနာတော်များကို မုသားဟုငြင်းဆိုနေခဲ့ကြ၏။ ထိုကဲ့သို့သော သူများသာလျှင် ငရဲသားများ ဖြစ်ကြပေသည်။

يٰٓاَيُّهَا الَّذِيْنَ اٰمَنُوْا لَا تُحَرِّمُوْا طَيِّبٰتِ مَآ اَحَلَّ اللّٰهُ لَكُمْ وَلَا تَعْتَدُوْا اِنَّ اللّٰهَ لَا يُحِبُّ الْمُعْتَدِيْنَ ﴿٨٧﴾

၈၇။ အို-"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် မိမိတို့အတို့ အလ္လာဟ်အရှင်မြတ်က ခွင့်ပြုထားတော်မူသည့် သန့်ရှင်းစင်ကြယ်သော အရာများကို (မိမိတို့အတို့) (ဟရာမ်)ဟူ၍ *ပိတ်ပင်တားမြစ်ခြင်းမပြုကုန်လင့်။* [၁] ထိုမှတပါး အသင်တို့သည် စည်းကမ်း(ဥပဒေ)ကိုလည်း *ဖောက်ဖျက်ကျူးလွန်ခြင်း မပြုကြလေနှင့်။* [၂]

---

(၁) အချို့သူများသည် တရားသဖြင့် ပြုလုပ်ပိုင်ခွင့်ရှိသော အရာများကိုပင် မပြုလုပ်ဘဲ ရှောင်ကြဉ်ခြင်းသည် ကုသိုလ်ရေးဖြစ်သည်ဟု မှတ်ယူကာ အမြဲဖယ်ကြဉ် ရှောင်ရှားလေ့ရှိကြသည်။ အကယ်၍ မွတ်စ်လင်မ် တစ်ဦးတယောက်သည် ယင်းကဲ့သို့ ပြုပိုင်ခွင့်ရှိသောအရာကို ဟရာမ်ဟူ၍ရှောင်ကြဉ်ခဲ့သည်ရှိသော် ထိုသို့သော မွတ်စ်လင်မ်သည် တနည်းအားဖြင့် "ထိုထိုဤဤ အရာများကို အစ္စလာမ်သာသနာတော်တွင် ခွင့်ပြုထားသည်မှာ ➤➤

ဇကန်မလွဲ အလ္လာဟ် အရှင်မြတ်သည် စည်းကမ်းဖောက်ဖျက် ကျူးလွန်သောသူတို့ကို နှစ်သက်မြတ်နိုးတော်မူသည် မဟုတ်ချေ။

وَكُلُوا مِمَّا رَزَقَكُمُ اللَّهُ حَلَٰلًا طَيِّبًا ۚ وَاتَّقُوا اللَّهَ الَّذِىٓ

၈၈။ ထို့ပြင်တဝ အသင်တို့သည် မိမိတို့အား အလ္လာဟ်အရှင်မြတ်က ပေးသနားတော်မူသည်များ အနက်မှ (စားသုံး) ခွင့်ပြုထားတော်မူသော သန့်စင် *သောအရာများကို စားသုံးကြလေကုန်။* [၁]

>> ချွတ်ယွင်းနေသည်၊ ကျွန်ုပ်သည် မိမိ၏အသိဉာဏ်အမြော်အမြင် ဗဟုသုတတို့ဖြင့် အဆိုပါ ချွတ်ယွင်းချက်များကို ပြုပြင်ဖြည့်စွက် ဖန်တည်းလျှက်ရှိပါသည်” ဟုပြောရာရောက်နေပေသည်။ ဤသို့ကား အလျှင်းမပြုအပ်ပေ။

ကျန်းမာရေးအတွက်သော်၎င်း၊ စီမံခန့်ခွဲမှုအတွက်သော်၎င်း၊ ပြုပိုင်ခွင့်ရှိသော အရာတစုံတခုကို ရှောင်ကြဉ်ခြင်းကား ဟလာလ်ကို ဟရာမ်ပြုရာတွင် အကျုံးမဝင်ပေ။ အတိတ်ခေတ်ရှိ အချို့မွတ်စ်လင်မ်သူတော်စင်များသည် အမြိန့်အရသာရှိသော စားဘွယ်သောက်ဘွယ်များကို ရှောင်ကြဉ်၍ တရား အားထုတ်ခဲ့ကြသည်မှာလည်း ဤသည့် သဘောမျိုးပင်ဖြစ်ပေမည်။ (ကြည့် - မာဂျိဒီ။)

“အလ္လာဟ်အရှင်မြတ်က အသင်တို့အဘို့ ဟလာလ် ပြုလုပ်ထားတော်မူသောအရာကို အသင်တို့သည် ဟရာမ်ဟူ၍ မပြုလုပ်ကြလင့်” ဟူသောမုက္ခပါဌ်တော်တွင် ကာယကံအားဖြင့် ဟရာမ်ပြုလုပ်ခြင်း၊ ဝစီကံအားဖြင့် ဟရာမ် ပြုလုပ်ခြင်း၊ မနောကံအားဖြင့် ဟရာမ်ပြုလုပ်ခြင်း၊ အားလုံးပင် အကျုံးဝင်သည်။ အလ္လာဟ်အရှင်မြတ်က ဟလာလ်ဟူ၍ ခွင့်ပြုထားတော်မူသော “တွိုင်ယိဗါတ်” စင်ကြယ်သန့်ရှင်း အပြစ်ကင်းသောအရာများတွင် စားဘွယ်သောက်ဘွယ် အဝတ်အစား၊ အိမ်ထောင်ပြုမှုစသည့် ကြိုက်နှစ်သက်ဖွယ်ရာ အားလုံးအကျုံးဝင်သည်။

(၂) ကမ္ဘာအဝှန်းကို မွေးမြူဖန်ဆင်းတော်မူသော၊ သဗ္ဗညုတဉာဏ်တော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်က သတ်မှတ်ပြဌာန်းထားတော်မူသော တရားစည်းကမ်းချက်များမှာ တိကျလှ၏။ မှန်ကန်လှ၏။ သင့်မြတ်လှ၏။ ပြည့်ဝစုံလင်လှ၏။ ထိုထိုသော တရားစည်းကမ်းချက်များတွင် တစုံတရာနှုတ်ပယ် ဖြည့်စွက်ရန် အကြောင်းကား အလျှင်း မရှိပေ။ သို့ဖြစ်ပေရာ ထိုထိုသော စည်းကမ်းချက်များတွင် မည်သူမျှ မိမိအတွေးအခေါ် အမြော်အမြင်ဖြင့် တစုံတရာ နှုတ်ပယ်ခြင်းလည်းမပြုရ၊ ဖြည့်စွက်ခြင်းလည်းမပြုရ၊ အလ္လာဟ်အရှင်မြတ် သတ်မှတ် ပြဌာန်းထားတော်မူသော စည်းကမ်းချက်များတွင် အနည်းငယ် ဖြည့်စွက်ခြင်းသည် စည်းကမ်းကျူးလွန်ရာ ရောက်သကဲ့သို့ အနည်းငယ် နှုတ်ပယ်ခြင်းသည်လည်း စည်းကမ်းကျူးလွန်ရာပင်ရောက်ပေသည်။ ထိုအတွက်ကြောင့် ကျွန်ုပ်တို့သည် အစ္စလာမ်သာသနာရေးဆိုင်ရာ စည်းကမ်းချက်များကို ဖြည့်စွက်နှုတ်ပယ်ခြင်း အလျှင်းမပြုဘဲ တသဝေမတိမ်း တိကျမှန်ကန်စွာ လိုက်နာကျင့်သုံးကြရပေမည်။ ဟလာလ်ကို ဟရာမ်မပြုကြရ၊ ဟရာမ်ကိုလည်း ဟလာလ်မပြုကြရ။

(၁) အလ္လာဟ်အရှင်မြတ်က စားသုံးရန်ခွင့်ပြုထားတော်မူသည့် သန့်စင်သောအရာများကို မစားသုံးဘဲနေခြင်းသည် ထူးကဲမြင့်မြတ်ခြင်း၏ အကြောင်းတရားမဟုတ်ပေ။ ကြည့် - ဂျဆ်ဆွာဆ်။မာဂျိဒီ

တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဆိတ်သား၊ သိုးသား၊ ကြက်သား၊ စသည့်အသားများကို စားသုံးတော်မူခဲ့၏။ အသီးအနှံများကိုလည်းစားသုံးတော်မူခဲ့၏။ ‘ယလ်ဝါ’၊ ပျားရည် >>

أَنتُم بِهِۦ مُؤْمِنُونَ ٨٨

ၡင်းပြင် အသင်တို့သည် မိမိတို့ သက်ဝင်ယုံကြည်လျက်ရှိကြကုန်သော *အလ္လာဟ်အရှင်မြတ်အားသာ ကြောက်ရွံ့ကြလေကုန်။* ၁

لَا يُؤَاخِذُكُمُ ٱللَّهُ بِٱللَّغْوِ فِىٓ أَيْمَـٰنِكُمْ وَلَـٰكِن يُؤَاخِذُكُم بِمَا عَقَّدتُّمُ

**၈၉။** အလ္လာဟ် အရှင်မြတ်သည် အသင်တို့၏ အချည်းနှီးသော ကျိန်ဆိုချက်များနှင့် စပ်လျဉ်း၍ အသင်တို့အား ပြစ်ဒဏ် ပေးတော်မူမည် မဟုတ်၊ သို့ရာတွင် အသင်တို့ အခိုင်အမာ ကျိန်ဆိုကြသော ကျိန်ဆိုချက်များနှင့် စပ်လျဉ်း၍ကား အသင်တို့ကို *အပြစ်ဒဏ်ပေးတော်မူမည် ဖြစ်သည်။* ၂

---

➤➤ စသည့် ချိုသောအရာများကိုလည်း စားသုံးတော်မူခဲ့၏။ ကြည့်-ဂျဆ်ဆွာဆ်၊ မာဂျိဒီ။

(ကုလူ) "စားသုံးကြ" ဟူသောစကားသည် စားဘွယ်သောက်ဘွယ်များနှင့်သာလျှင် သက်ဆိုင်သည် မဟုတ်၊ ယင်းစကားတွင် စားမှု၊ သောက်မှု၊ ဝတ်မှု၊ စီးနင်းမှု စသည့် အကျိုးခံစားဘွယ်ရာ အရာအားလုံး အကျုံးဝင်လျက်ရှိပေသည်။ ကြည့်-ကုရ်တုဗီ။

သာဝကကြီး အဗ်ဒုလ္လာဟ် အီဗ်နအဗ္ဗါစ်သခင်က "အသင်သည် (ဟလာလ်ဖြစ်သော အရာများအနက်) စားချင်သောအရာကို စားပါ၊ ဝတ်ဆင်လိုသောအရာကို ဝတ်ဆင်ပါ၊ သို့ရာတွင် ဖြုန်းတီးမှုနှင့် ဝါကြွားမှုကိုကား ရှောင်ပါ" ဟု ပြောကြားလေ့ရှိခဲ့သည်။ ကြည့်-ဂျဆ်ဆွာဆ်။

① ခွင့်ပြုထားတော်မူသော အရာများကို စားသုံးရာတွင် 'တာက္ကဝါ' တရားကို အမြဲတစေ လက်ကိုင်ပြုထားကြရမည်၊ အဘယ်ကြောင့်ဆိုသော် တာက္ကဝါတရားကို လက်ကိုင်ထားသူ တစ်ဦးသည် စားသုံးရာတွင် အလွန်အယုတ် ဖြစ်မည်မဟုတ်၊ အလယ်အလတ် လမ်းစဉ်ကိုသာ လိုက်နာပေမည်၊ ဝါကြွားမှု၊ ဖြုန်းတီးမှုများကိုလည်း အထူးရှောင်ရှားပေမည်။ (မာဂျိဒီကို မှီးသည်)။

အထက်တွင် 'ဟလာလ်'ကို 'ဟရာမ်' မပြုလုပ်ရမည့်အကြောင်း ပါရှိ၏။ 'ဟလာလ်' ကို 'ဟရာမ်' ပြုလုပ်သည့်နည်းတရပ်မှာ (ယမီးန်) ကျိန်ဆိုခြင်းပင်ဖြစ်၏။ ထို့အတွက်ကြောင့် လာလတ့်သော မုက္ခပါဌ်တော်တွင် ကျိန်ဆိုခြင်းနှင့်စပ်လျဉ်းသည့် စည်းကမ်းချက်များကို မိန့်ဆိုထားတော်မူသည်။ ကြည့်-၊ ထာနဝီ၊

② အလေ့အထအလျောက် အမှုမဲ့အမှတ်မဲ့ အချည်းနှီးကျိန်ဆိုသော ကျိန်ဆိုချက်များနှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်သည် အပြစ်ပေးတော်မမူသော်လည်း အခိုင်အမာကျိန်ဆိုသော ကျိန်ဆိုချက်များနှင့်စပ်လျဉ်း၍ကား အပြစ်ပေးတော်မူမည်ဖြစ်သည်။

(ယမီးန်) ကျိန်ဆိုခြင်းသည် သုံးမျိုးသုံးစားရှိသည်။ (၁) ဃမူစ်၊ (၂) မွန်အကိဒဟ်၊ (၃) လဃ်ဝ်

(၁) "ဃမူစ်" ဟူသည် အတိတ်တွင် ဖြစ်ပျက်ခဲ့သော ကိစ္စတစ်ရပ်နှင့် စပ်လျဉ်း၍ လိမ်လည်လိုသော စေတနာဖြင့် မုသားကျိန်ဆိုခြင်းကိုခေါ်သည်။ ယင်းသို့ကျိန်ဆိုသောသူသည် အပြစ်ဒဏ်ခံရမည်ဖြစ်၏။'ကဖာရဟ်' အပြစ်ဖြေရန်တာဝန်မရှိ။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်ထံတော်၌ ဝန်ချတောင်းပန် အသနားခံရပေမည်။

(၂) "မွန်အကိဒဟ်" ဟူသည် အနာဂါတ်တွင်ဖြစ်မည့် ကိစ္စတစ်ရပ်ရပ်နှင့်စပ်လျဉ်း၍ (ဥပမာ -➤➤

الْأَيْمَانَ ۚ فَكَفَّارَتُهُ إِطْعَامُ عَشَرَةِ مَسَاكِينَ مِنْ أَوْسَطِ مَا تُطْعِمُونَ أَهْلِيكُمْ أَوْ كِسْوَتُهُمْ أَوْ تَحْرِيرُ رَقَبَةٍ ۖ فَمَنْ لَمْ يَجِدْ فَصِيَامُ ثَلَاثَةِ أَيَّامٍ ۚ ذَٰلِكَ كَفَّارَةُ أَيْمَانِكُمْ إِذَا حَلَفْتُمْ ۚ وَاحْفَظُوا أَيْمَانَكُمْ ۚ كَذَٰلِكَ يُبَيِّنُ اللَّهُ لَكُمْ آيَاتِهِ لَعَلَّكُمْ

သို့ဖြစ်ပေရာ (ယင်းကဲ့သို့သော ကျိန်ဆိုချက်များကို ချိုးဖောက်ခဲ့သည်ရှိသော်) ထိုကျိန်ဆိုချက်ကို (ချိုးဖောက်ခြင်း)၏ အပြစ် အာပတ်ဖြေမှုကား အသင်တို့သည် မိမိတို့၏ အိမ်သူအိမ်သားတို့ကို ကျွေးမွေးလေ့ရှိကြသော ခဲဘွယ်ဘောဇဉ်မျိုးထဲမှ အလတ်စားဖြစ်သော ခဲဘွယ်ဘောဇဉ်ကို သူဆင်းရဲဆယ်ယောက်အား ကျွေးမွေးခြင်းသော်ငင်း၊ ထိုသူဆင်းရဲသား (ဆယ်ယောက်)တို့အား အဝတ်အစား (တစုံကျစီ) ပေးခြင်းသော်ငင်း၊ ကျွန်တယောက်ကို ကျွန်အဖြစ်မှ လွတ်မြောက်စေခြင်းသော်ငင်း၊ ဖြစ်ချေသည်။ သို့ရာတွင် အကြင်သူသည် (ဤအချက်များကိုလိုက်နာရန်) မတတ်စွမ်းနိုင်ခဲ့ပါမူ (ထိုသူသည်) သုံးရက်(ဆက်၍) "ဆွိယာမ်" ဥပုသ် ဆောက်တည်ရမည်။

---

➤➤ ကျွန်ုပ်သည် ဤအလုပ်ကို ပြုလုပ်မည် ဟူ၍သော် လည်းကောင်း၊ ကျွန်ုပ်သည် ဤအလုပ်ကို ပြုလုပ်မည် မဟုတ် ဟူ၍သော် လည်းကောင်း၊) ကျိန်ဆိုခြင်းကို ဆိုသည်။ ယင်းကဲ့သို့ ကျိန်ဆို ပြီးနောက် မိမိ၏ ကျိန်ဆိုချက်ကို ချိုးဖောက်ခဲ့သည် ရှိသော် ထိုသူ့အပေါ်၌ "ကဖ္ဖါရဟ်" အပြစ် အာပတ်ဖြေရန် တာဝန်ရှိသည်။

(၃) "လဃ်ဝ်" ဟူသည် အတိတ်ခေတ်တွင် ဖြစ်ပျက်ခဲ့သော ကိစ္စတရပ်ရပ်နှင့်စပ်လျဉ်း၍ မိမိကျိန်ဆိုသည့်အတိုင်း မှန်ကန်သည်ဟု ယူဆကာ ကျိန်ဆိုခြင်းကို ဆိုသည်။ သို့ရာတွင် အဖြစ်မှန်မှာ ထိုကျိန်ဆိုသူ၏ ယူဆချက်သည် မှားလျက်ရှိ၏။ ထိုကဲ့သို့ ကျိန်ဆိုသောသူ၌ အပြစ်ရှိမည်မဟုတ်ချေ။

ကြည့်-ဟိဒါယဟ်ကျမ်း၊ အစောင် - ၂၊ စာမျက်နှာ (၄၅၈ - ၄၅၉)

**ဓမ္မသတ်-။**

(က) ဆင်းရဲသား ၁၀ ဦးကို (နံနက်စာ၊ ညစာနှစ်နပ်) ထမင်းအဝကျွေးမွေးရာတွင် ၎င်းတို့အား မိမိအိမ်၌လည်း ခေါ်၍ကျွေးနိုင်သည်။ သို့မဟုတ် "ဆွဒကတုလ်ဖစ်တ်ရ်" အလျှုနှင့်အမျှ ဆင်းရဲသားများကို ကောက်ပဲသီးနှံကိုသော်လည်းကောင်း၊ အခကြေးငွေကိုသော်လည်းကောင်း၊ ပေးနိုင်ပေသည်။

(ခ) ဆင်းရဲသားများအား အဝတ်အစားပေးရာတွင် ကိုယ်ခန္ဓာ၏အများစုကို လုံခြုံစေသည့် အဝတ်အစားများကို ပေးရမည်။ ဥပမာ-အင်္ကျီ၊ ဘောင်းဘီ၊ သို့မဟုတ် ပုဆိုး၊ ခြုံထည် ပါဝင်စေရမည်။

(ဂ) ကျွန်ကို ကျွန်အဖြစ်မှ လွတ်မြောက်စေရာတွင် အဆိုပါကျွန်သည် မွတ်စ်လင်မ်ဖြစ်ရန်မလိုပေ။

(ဃ) တရက်နှစ်ရက် ဥပုသ်ဆောက်တည်ပြီးမှ ဆင်းရဲသားများကို ထမင်းကျွေးရန် စွမ်းဆောင် ➤➤

تَشۡكُرُونَ ﴿٨٩﴾

ဤသည်တို့ကား အသင်တို့ ကျိန်ဆိုပြီး (မိမိတို့၏ ကျိန်ဆိုချက်များကို ချိုးဖောက်)ခဲ့သည် ရှိသော် အသင်တို့ကျိန်ဆိုချက်များ၏ အပြစ်အာပတ် ဖြေခြင်းပင် ဖြစ်သည်။ ၎င်းပြင် အသင်တို့သည် မိမိ တို့၏ ကျိန်ဆိုချက်များကို စောင့်ထိန်းကြလေကုန်။ ဤသို့အားဖြင့် အလ္လာဟ် အရှင်မြတ်သည် မိမိ၏ အမိန့်တော်များကို အသင်တို့အဘို့ ရှင်းလင်းစွာ ထုတ်ဖော် မိန့်ကြားတော်မူလေသည်။ သို့မှသာလျှင် အသင်တို့ ကျေးဇူးသိတတ်ကြပေမည်။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوٓاْ إِنَّمَا ٱلۡخَمۡرُ وَٱلۡمَيۡسِرُ وَٱلۡأَنصَابُ وَٱلۡأَزۡلَٰمُ رِجۡسٞ مِّنۡ عَمَلِ ٱلشَّيۡطَٰنِ فَٱجۡتَنِبُوهُ لَعَلَّكُمۡ تُفۡلِحُونَ ﴿٩٠﴾

၉၀။ အို-"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်း တို့၊ မုချဧကန် သေစာအရက်သည်၎င်း၊ လောင်းတမ်း ကစားခြင်းသည်၎င်း၊ ရုပ်ထု၊ ဆင်းတု (အစရှိသည့် အရာ)များသည်၎င်း၊ မြှား (ဖြင့် ကံစမ်းခြင်း)သည် ၎င်း၊ အလွန်ဆိုးရွား ညစ်ညမ်းလှသော အမှုကိစ္စများ၊ 'ရှိုင်တွာန်' အပြုအမူများသာလျှင် ဖြစ်၏။ သို့ဖြစ်ပေ ရာ အသင်တို့သည် ထို(ဆိုးရွားညစ်ညမ်းသောအရာ) ကို *ရှောင်ကြဉ်ကြကုန်လော့*၊ [၁] သို့မှသာလျှင် အသင် တို့သည် အောင်မြင်ကြပေမည်။

➤➤ နိုင်ခဲ့သည် ရှိသော်၊ သို့မဟုတ် အဝတ်အစားပေးရန် စွမ်းဆောင်နိုင်ခဲ့သည်ရှိသော် ဥပုသ် ဆောက်တည်ခြင်းသည် 'ကဖ်ဖာရဟ်' ဖြစ်မည် မဟုတ်ပေ။ (အဘယ့်ကြောင့်ဆိုသော် ကဖ်ဖာရဟ်အတွက် ဥပုသ်ဆောက်တည်ရာတွင် သုံးရက်ဆက်တိုက် ဆောက်တည်ရသည်)။

(င) ဤမုက္ခပါဌ်တော်တွင် စွမ်းဆောင်နိုင်ခြင်းဟူသည် "ဆွာနိုဗ်" ဇကာတ် ပေးဆောင်ရန် အတွက် တရားတော်က သတ်မှတ်ထားသည့် ဥစ္စာပစ္စည်းအရေအတွက်မျှ) ပိုင်ဆိုင်ခြင်းကို ဆိုလိုသည်မဟုတ်။ ကဖ်ဖာရဟ်ပေးရန်အတွက် လိုအပ်သမျှကို စွမ်းဆောင်နိုင်ခြင်းကိုသာ ဆိုလိုသည်။

(စ) ကျိန်ဆိုချက်ကို တမင်ချိုးဖောက်သည်ဖြစ်စေ၊ မေ့မှား၍ ချိုးဖောက်မိသည်ဖြစ် 'ကဖ်ဖါရဟ်' ပေးရမည်သည်ဖြစ်၏။
ထာနဝီ၊ အတွဲ - ၁၊ စာမျက်နှာ - (၅၉)။

(ဆ) ဆင်းရဲသား ၁၀ ယောက်ကို ထမင်းကျွေးမွေးရာတွင် နံနက်စာ၊ ညစာ၊ နှစ်နပ် ကျွေးမွေးရမည် ဖြစ်သည်။ ဆင်းရဲသား ၁၀ ယောက်ကို တရက်တည်းတွင်လည်း ကျွေးမွေးနိုင်သည်။ ဆင်းရဲသား ၁ ယောက်ကို ၁၀ ရက်လည်း ကျွေးမွေးနိုင်သည်။ (မာဂျီဒီ၊ ထာနဝီ)။

(၁) ဤမုက္ခပါဌ်တော်တွင် သေရည်သေရက်သောက်စားခြင်း၊ လောင်းကစားခြင်းများကို "ဟရာမ်" ဟူ၍ ➤➤

➤➤ ပညတ်တော်မူရာတွင် သုံးနှုန်းထားတော်မူသော အသုံးနှုန်းနှင့် အကြောင်းပြချက်များကို အလ္လာမဟ်ဇမခ်ရှရီက အောက်ပါအတိုင်း ရေးသားဖော်ပြထားသည်။

(၁) ဤမုကဒ္ဒပါဠ်တော်၏အစ၌ အလ္လာဟ်အရှင်မြတ်သည် "အင်န်နမာ" (ဤမှတပါး အခြား မဟုတ်) ဟူသောပုဒ်ကို သုံးထားတော်မူသည်။ ဆိုလိုသည်ကား သေရည်သေရက်နှင့် လောင်းတမ်းကစားမှု၏ အခြေအမြစ်မှာ ဤမုကဒ္ဒပါဠ်တော်တွင် ပါရှိသည့်အတိုင်းပင်ဖြစ်သည်။ ဤမှတပါးအခြားမဟုတ်ပေ။

(၂) သေရည်သေရက်နှင့် လောင်းတမ်းကစားမှု အကြောင်းကို ဆင်းတု၊ ကံစမ်းမဲမြှားစသည့် ဆိုးရွားညစ်ညမ်းသော အရာများနှင့် ပူးတွဲ၍ မိန့်ဆိုထားတော်မူသည်။

(၃) သေရည်သေရက်နှင့် လောင်းကစားမှုများကို "ရစ်ဂျ်စ်" ညစ်ညမ်းယုတ်မာသော အရာများဟူ၍ မိန့်ဆိုထားတော်မူသည်။

(၄) သေရည်သေရက်နှင့် လောင်းတမ်းကစားမှုများကို ရှိုင်တွာန်၏အလုပ်ဖြစ်သည် ဟူ၍ မိန့်ဆို ထားတော်မူသည်။

(၅) သေရည်သေရက်နှင့် လောင်းတမ်းကစားမှုများကို ရှောင်ကြဉ်ကြလော့ ဟု အတည့်အလင်း ပညတ် ထားတော်မူသည်။

(၆) သေရည်သေရက်နှင့် လောင်းတမ်းကစားမှုများကို ရှောင်ကြဉ်လျှင် အောင်မြင်မည်ဟူ၍ မိန့်ဆို ထားတော်မူသည်။

(၇) သေရည်သေရက်နှင့် လောင်းတမ်းကစားမှုများနှင့် စပ်လျဉ်း၍ လောကီ၊ လောကုတ္တရာရေးများတွင် ကျိုးယုတ်ဆုံးရှုံးများကိုလည်း ပူးတွဲမိန့်ဆိုထားတော်မူသည်။ ဤသည့်အချက်များကို ထောက်ရှုခြင်း အားဖြင့် သေရည်သေရက်၊ လောင်းတမ်းကစားမှုများသည် ဟရာမ်ဖြစ်ကြောင်း၊ အဘယ်မျှ ဆိုးရွားကြောင်းကို ကောင်းစွာသိနိုင်ပေသည်။ ကြည့်-မာဂျိဒီ။

သေရည်သေရက်ကို 'ဟရာမ်' ဟူ၍ တားမြစ်တော်မူသည့်အကြောင်း ဤမုကဒ္ဒပါဠ်တော် တပါးတည်း နှင့်ပင် လုံလောက်ပေသည်။ အဘယ်ကြောင့်ဆိုသော် (၁) သေရည်သေရက်သည် (ရစ်ဂျ်စ်) ညစ်ညမ်းသောအရာ ဖြစ်၏။ ရှရီအတ်တွင် 'ရစ်ဂျ်စ်' ညစ်ညမ်းသော အရာဟူသမျှကို ရှောင်ကြည်ရ၏။ (၂) သေရည်သေရက်ကို အသင်တို့ ရှောင်ကြဉ်ကြကုန်လော့ဟူ၍ အလ္လာဟ်အရှင်မြတ်က အတည့်အလင်း ပညတ်ထားတော်မူသည်။ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို မုချလိုက်နာကျင့်သုံးရသည်ဖြစ်၏။

ဂျဆ်ဆွာဆ်။ မာဂျိဒီ၊ အတွဲ-၁၊ စာမျက်နှာ-၂၆၉၊ အောက်ခြေအမှတ်(၂၈၄)။

သေရည်သေရက် သောက်စားမှုကို ပိတ်ပင်တားမြစ်တော်မူရာ၌ ထုတ်ပြန်ချမှတ်တော်မူသည့် ဤမုကဒ္ဒပါဠ်တော်တွင် သုံးနှုန်းထားတော်မူသည့် အသုံးအနှုန်းများနှင့် အကြောင်းပြချက်များကို အထူးစဉ်းစား ဆင်ခြင်အပ်ပေသည်။ ဤတွင် 'အလ်မနာရ်' ကျမ်းမှ ကောက်နုတ်ချက်ကို ရေးသားဖော်ပြပါအံ့။

(၁) အလ္လာဟ်အရှင်မြတ်သည် သေရည်သေရက် သောက်စားမှုနှင့် လောင်းတမ်းကစားမှုကို 'ရစ်ဂျ်စ်' ဟူ၍ မိန့်ဆိုထားတော်မူ၏။ 'ရစ်ဂျ်စ်' ဟူသည် အဆိုးရွားဆုံး၊ အညစ်ညမ်းဆုံး၊ အယုတ်မာဆုံးသော အရာကိုဆိုသည်။ 'ရစ်ဂျ်စ်' ဟူသော ပုဒ်ကို ကုရ်အာန်ကျမ်းမြတ်တွင် ၉ -နေရာ၌ သုံးနှုန်းထားတော် မူသည်ကို တွေ့ရှိရသည်။ ကြည့်-ကုရ်အာန် (၅း၉၀။ ၆း၁၂၆။ ၆း၁၄၆။ ၇း၇၁။ ၉း၉၅။ ၉း၁၂၅။ ၁၀း၁၀၀။ ၂၂း၃၀။ ၃၃း၃၃) ကုရ်အာန်ကျမ်းလာ မုကဒ္ဒပါဠ်တော်များကို ကြည့်ခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်သည် သန့်ရှင်းစင်ကြယ်သော အရာများကို ခွင့်ပြုထားတော်မူသည့် ➤➤

➤➤ အကြောင်း၊ ညစ်ညမ်းသော အရာများကို တားမြစ်ထားတော်မူသည့် အကြောင်းကောင်းစွာ သိရှိရပေသည်။

တမန်တော်မြတ်ကလည်း သေရည်သေရက်နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း မိန့်ကြားတော်မူခဲ့လေသည်။

သေရည်သေရက်သည် ယုတ်မာညစ်ညမ်းမှုအပေါင်းတို့၏ မိခင် (အချုပ်) ဖြစ်သည်။

သေရည်သေရက်သည် ရှက်ဘွယ်မှုအပေါင်းတို့၏ အမိဖြစ်၏၊ ကြီးလေးသော အပြစ်များ အနက် အကြီးဆုံး အပြစ်ဖြစ်၏။ အကြင်သူသည် သေရည်သေရက် သောက်စားအံ့၊ ထိုသူသည် ဆွလာတ်ဝတ်ပြုမှုကို စွန့်အံ့၊ ၎င်းပြင် ထိုသူသည် မိမိ၏ အမိ၊ အရီး၊ အဒေါ်များကိုလည်း ပြုကျင့်အံ့။

(၂) အလ္လာဟ်အရှင်မြတ်သည် အဆိုပါမုက္ခပါဋ္ဌ်တော်ကို "အင်န်နမာ" ဟူသော ယုံမှားဘွယ်မရှိခြင်းပြ ကြိယာဝိသေသနပုဒ်ဖြင့် အစပြုထားတော်မူသည်။ "အင်န်နမာ" ၏ အဓိပ္ပါယ်မှာ "ဤမှတပါး အခြားမဟုတ်"၊ "မုချဧကန်" ဟူ၍ဖြစ်၏။ ဆိုလိုသည်ကား သေရည်သေရက် သောက်စားမှုနှင့် လောင်းတမ်းကစားမှုသည် ကုရ်အာန်ကျမ်းမြတ်တွင် ပါရှိသည့်အတိုင်းပင် အလွန်တရာမျှ ယုတ်မာ ညစ်ညမ်းသော အမှုသာလျှင်ဖြစ်၏။ အကောင်းဟူ၍ ဘာမျှမရှိ။ ဤမှတပါး အခြားမဟုတ်ချေ။

(၃) အလ္လာဟ်အရှင်မြတ်သည် သေရည်သေရက် သောက်စားမှုနှင့် လောင်းတမ်းကစားမှုများကို အမိုက်ခေတ်ရှိ သူမိုက်များ ဆည်းကပ်ကိုးကွယ်ခဲ့ကြသည့် ရုပ်လုံး၊ ရုပ်ထုများ၊ သူမိုက်တို့ အသုံးပြုခဲ့ကြသည့် မဲမြှားများနှင့် ပူးတွဲ၍ မိန့်ဆိုထားတော်မူသည်။

(၄) အလ္လာဟ်အရှင်မြတ်သည် သေရည်သေရက် သောက်စားမှုနှင့် လောင်းတမ်းကစားမှုသည် "ရှိုင်တွာန်" ၏ အလုပ်ဟူ၍ မိန့်ဆိုထားတော်မူသည်။ အဘယ်ကြောင့်ဆိုသော် ထိုအမှု ၂ - ရပ်မှ သွေဖည်မှု၊ မကောင်းမှုများသာ ဖြစ်ပွားခြင်းကြောင့်ပင်ဖြစ်သည်။ ၎င်းပြင် ရှိုင်တွာန်၏ အလုပ်မှန်သမျှသည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ ကင်းဝေးရန်အကြောင်းချည်းသာလျှင် ဖြစ်ပေသည်။

(၅) အလ္လာဟ်အရှင်မြတ်က "ဖဂ်ျတနိဗူဟု" (အသင်တို့သည် ထိုယုတ်မာညစ်ညမ်းသော အရာကို ဝေးစွာရှောင်ကြဉ်ကြ) ဟု အတည့်အလင်းပိတ်ပင် မြစ်တားထားတော်မူသည်။

(၆) အလ္လာဟ်အရှင်မြတ်က သေရည်အရက်သောက်စားမှုနှင့် လောင်းတမ်းကစားမှုကို ရှောင်ကြဉ်လျှင် အောင်မြင်မည်ဟူ၍လည်း မိန့်ကြားထားတော်မူသည်။

(၇-၈) အလ္လာဟ်အရှင်မြတ်က သေရည်အရက်သောက်စားမှုနှင့် လောင်းတမ်းကစားမှုသည် ရန်ငြိုးပွားမှု၊ မုန်းထားမှုများ၏ အကြောင်းရင်းဖြစ်သည် ဟူ၍လည်း မိန့်ဆိုထားတော်မူသည်။ ရန်ငြိုးပွားမှု၊ မုန်းထားမှုသည် လောကီရေးများတွင် ဒုစရိုက်မှုအမျိုးမျိုးကို ဖြစ်ပွားစေသည့် အဆိုးရွားဆုံးသော အရာပင်ဖြစ်သည်။

(၉-၁၀) သေရည်သေရက် သောက်စားမှုနှင့် လောင်းတမ်းကစားမှုသည် အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရခြင်းနှင့် ဆွလာတ်ဝတ်ပြုခြင်းများကိုလည်း တားဆီးသည်ဟူ၍လည်း မိန့်ဆိုထားတော်မူသည်။ အမှန်မှာ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရခြင်းသည် သာသနာ၏ ဝိညာဉ်ဖြစ်၏။ ဆွလာတ်ဝတ်ပြုခြင်းသည် သာသနာ၏ မဏ္ဍိုင်ဖြစ်၏။

(၁၁) အလ္လာဟ်အရှင်မြတ်သည် ကျိုးကြောင်းပြတော်မူ၍ အဆိုပါမုက္ခပါဋ္ဌ်တော်၏ အဆုံးတွင် "ဖဟလ်အန်တွန်မ် မွန့်တဟူန်" အသင်တို့သည် ရပ်တန့်ကြမည်လော၊ (ရပ်တန့်ကြ)ဟူ၍ ➤➤

إِنَّمَا يُرِيدُ الشَّيْطَٰنُ أَن يُوقِعَ بَيْنَكُمُ الْعَدَٰوَةَ وَالْبَغْضَآءَ فِى الْخَمْرِ وَالْمَيْسِرِ وَيَصُدَّكُمْ عَن ذِكْرِ اللَّهِ وَعَنِ الصَّلَوٰةِ فَهَلْ أَنتُم مُّنتَهُونَ ﴿٩١﴾

၉၁။ မုချဧကန် "ရှိင်တွာန်" မိစ္ဆာကောင်သည် သေစာအရက်(ကို သောက်စား စေခြင်း)ဖြင့်၎င်း၊ လောင်းတမ်း ကစားစေခြင်းဖြင့်၎င်း၊ အသင်တို့၏ စပ်ကြားဝယ် ရန်ငြိုးပွားမှုကို၎င်း၊ မုန်းတီးမှုကို၎င်း၊ ဖန်တီးရန်နှင့် အသင်တို့ကို အလ္လာဟ်အရှင်မြတ်အား အောက်မေ့သတိရခြင်းမှ၎င်း၊ "ဆွလာတ်" ဝတ်ပြုခြင်းမှ၎င်း၊ ပိတ်ပင်တားဆီးရန်သာလျှင် *ကြံစည်လျက်* ရှိလေ၏။ [၁] သို့ဖြစ်ပေရာ အသင်တို့သည် (သေစာအရက်သောက်စားခြင်းနှင့်လောင်းတမ်းကစားခြင်းမှ) ရပ်စဲကြပါမည်လော။

---

➤➤ လေးနက်စွာ မြစ်တားထားတော်မူသည်။

(၁၂) သေရည်အရက်သောက်စားမှု၊ လောင်းတမ်းကစားမှုများကို ရှောင်ကြဉ်ရန်နှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို၎င်း၊ တမန်တော်မြတ်၏ ဩဝါဒများကို၎င်း၊ လိုက်နာကြရမည်ဟူ၍လည်း ထပ်ဆင့်၍ အလ္လာဟ်အရှင်မြတ်က မိန့်ဆိုထားတော်မူသည်။

(၁၃) သေရည်အရက်သောက်စားမှု၊ လောင်းတမ်းကစားမှုများကို ရှောင်ကြဉ်ကြရန်နှင့်စပ်လျဉ်းသည့် အမိန့်တော်များကို သွေဖည်က ပစ္စက္ခဘဝနှင့် နောင်တမလွန်ဘဝတွင် သက်ရောက်မည့် ပြစ်ဒဏ်များကို သတိပြုကြဟူ၍လည်း အလ္လာဟ်အရှင်မြတ်က သတိပေးထားတော်မူသည်။

(၁၄) သေရည်အရက် သောက်စားမှု၊ လောင်းတမ်းကစားမှုများကို ရှောင်ကြဉ်ရန်နှင့် စပ်လျဉ်း၍ အမိန့်တော်များကို သွေဖည်ကြလျှင် "ငါ၏ တမန်တော်အပေါ်၌ ရှင်းလင်းစွာ ဟောကြားရန် တာဝန်သာလျှင် ရှိသည်" ဟူ၍ ထပ်မံသတိပေးထားတော်မူသည်။ ဆိုလိုသည်ကား တမန်တော်မြတ်သည် မိမိ၌ တာဝန်ရှိသည့် အတိုင်း ပွင့်လင်းစွာ ဟောကြားပြီးချေပြီ။ နာခံခြင်း၊ မနာခံခြင်းသည် အသင်တို့၏ တာဝန်သာဖြစ်၏။ တာဝန် ကျေပြွန်သူတို့ကို အကျိုးပေးခြင်း၊ တာဝန် ပျက်ကွက်သူတို့ကို အပြစ်ပေးခြင်းသည် ငါ၏တာဝန် ဖြစ်၏။ သို့ဖြစ်ပေရာအသင်တို့သည် မိမိတို့၏အကျိုးအပြစ်ကို မကြာမီအတွင်း တွေ့မြင်ကြရမည်ဟူလို။

သေရည်သေရက်သောက်စားမှုနှင့် လောင်းတမ်းကစားမှုကို ပိတ်ပင်တားမြစ်ထားတော်မူရာတွင် လေးနက်သော အသုံးအနှုန်း၊ ကြောက်မက်ဘွယ်ကောင်းသော သတိပေးချက်များဖြင့် ကျိုးကြောင်းပြ၍ လေးနက်ကျပ်တည်းစွာ ပညတ်ထားတော်မူသည်။

(၁) သေရည်သေရက် သောက်စားသည့်အခါ အသိဉာဏ်သည် ပျောက်ကွယ်သွား၏၊ ဟီရိဩတ္တပ္ပ အရှက်အကြောက်ကင်းမဲ့သွား၏။ "ကာမကြူးလျှင်-မွဲ၊ သေရည်ကြူးလျှင်-ဆဲ" ဆိုသကဲ့သို့ ဆဲဆို၏။ အချို့အချိန်များတွင် သူရူးသဘွယ်ဖြစ်၍ အချင်းချင်း ခိုက်ရန်ဒေါသဖြစ်၏။ အမူးပြေသည့် နောက်သော်မှပင် ရန်ငြိုးရန်စ ကျန်လျက်ရှိတတ်၏။ လောင်းတမ်းကစားခြင်းသည် ထို့ထက်မကပင် အချင်းချင်းအကြီးအကျယ် အငြင်းအခုံဖြစ်စေ၏၊ ➤➤

တနည်း။

ဤမှတပါး အခြားမဟုတ်၊ ရှိုင်တွာန်မိစ္ဆာကောင်သည် သေရည်သေရက်ဖြင့်၎င်း၊ အလောင်းအစားဖြင့်၎င်း၊ အသင်တို့စပ်ကြားတွင် ရန်ငြိုးပွားမှု၊ မုန်းထားမှုများကို ဖြစ်စေလို၏။ ၎င်းပြင် (ရှိုင်တွာန်သည်) အသင်တို့ကို အလ္လာဟ် အရှင်မြတ်အား အောက်မေ့တသ သတိရခြင်းမှ၎င်း၊ ဆွလာတ်ဝတ်ပြုခြင်းမှ၎င်း၊ ပိတ်ပင်တားဆီးလို၏။ သို့ဖြစ်ပေရာ အသင်တို့သည် ရပ်တံ့ကြမည်သူများဖြစ်ကြသလော။ (ရပ်တန့်ကြမည်လော)(ဝါ) ရပ်တန့်ကြလေကုန်။

وَأَطِيعُوا اللَّهَ وَأَطِيعُوا الرَّسُولَ وَاحْذَرُوا فَإِنْ تَوَلَّيْتُمْ فَاعْلَمُوا أَنَّمَا عَلَىٰ رَسُولِنَا الْبَلَاغُ الْمُبِينُ ﴿٩٢﴾

၉၂။ ၎င်းပြင်အသင်တို့သည် အလ္လာဟ်အရှင်မြတ် (၏ အမိန့်တော်အရပ်ရပ်)ကို လိုက်နာကြလေကုန်၊ ၎င်းပြင်အသင်တို့သည် ရစူလ်တမန်တော်(၏ သြဝါဒအရပ်ရပ်)ကိုလည်း လိုက်နာကြလေကုန်၊ ၎င်းပြင် အသင်တို့သည်သတိထားကြလေကုန်၊ တဖန် အကယ်၍အသင်တို့သည် (အလ္လာဟ်အရှင်မြတ်နှင့် နဗီတမန်တော်မြတ်၏ အမိန့်တော်များကို မလိုက်နာကြဘဲ)

➤➤ နိုင်သူသည် စည်းမဲ့ကမ်းမဲ့ အပျော်ကြူး၏။ ရှုံးသူသည် ဝမ်းနည်းပက်လက် ဖြစ်၏။ တဖန်ပြန်လည်၍ အနိုင်ရရှိရန်အတွက် အခြားလုပ်ငန်းဆောင်တာများကိုပင် မစဉ်းစားနိုင်ဘဲ မစားနိုင် မသောက်နိုင် ကြိုးပမ်း၏။ နိုင်သူကို လုပ်ကြံသတ်ဖြတ်၏။ အရက်သေစာသောက်စားသူများနှင့် လောင်းကစား သူများသည် ပစ္စက္ခမျက်မှောက်ဘဝ၌ပင် ဥစ္စာပစ္စည်း ဆုံးပါးကြရ၏။ အရက်သမား၊ ကစားသမားဟူ၍ လူအများ၏ ကဲ့ရဲ့ပြစ်တင်ခြင်းကို ခံကြရ၏။ ထိုသို့သောသူများသည် အလ္လာဟ်အရှင်မြတ်အား အသို့လျှင် အောက်မေ့တသ သတိရကြနိုင်အံ့နည်း၊ အသို့လျှင် ဆွလာတ်ဝတ်ပြုနိုင်ကြအံ့နည်း။ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရခြင်းသည် သာသနာ၏ ဝိညာဉ်ဖြစ်၏။ ဆွလာတ်ဝတ်ပြုခြင်းသည် သာသနာ၏ မဏ္ဍိုင်ဖြစ်၏။
(အလ်မနာရ်)။

သေရည်သေရက်သောက်စားခြင်း၊ အလောင်းအစား ပြုလုပ်ခြင်းသည် တနည်းအားဖြင့် ရှိုင်တွာန်မိစ္ဆာကောင်၏သစ္စာရေကို သောက်သုံးရမည်၏။ ရှိုင်တွာန်သည် အရက်သမားနှင့်ကစားသမားများအား ဒုစရိုက်မှုအမျိုးမျိုးကို ကျူးလွန်ရန် ကောင်းစွာစေစား၏။ အချုပ်အားဖြင့် အရက်သမားကစားသမားများသည် နှစ်ဘဝလုံး၌ပင် အဆုံးကြီးဆုံး၍ အရှုံးကြီးရှုံးကြရမည့် သူယုတ်မာများသာ ဖြစ်ကြပေသည်။

လွှဲဖယ်သွားကြပါမူ၊ ငါ အရှင်မြတ်၏ ရစူလ် တမန်တော်၌ (ငါအရှင်မြတ်၏ အမိန့်တော်များကို) ရှင်းလင်းထင်ရှားစွာ (ထုတ်ဖော်ဟောကြား) ပို့သ ရန်သာ တာဝန်ရှိသည်ကို အသင်တို့ (ကောင်းစွာ) သိနားလည်ထားကြလေကုန်။

လَيْسَ عَلَى الَّذِيْنَ اٰمَنُوْا
وَعَمِلُوا الصّٰلِحٰتِ جُنَاحٌ
فِيْمَا طَعِمُوْٓا اِذَا مَا اتَّقَوْا
وَّاٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ
ثُمَّ اتَّقَوْا وَّاٰمَنُوْا ثُمَّ اتَّقَوْا
وَّاَحْسَنُوْا ۗ وَاللّٰهُ يُحِبُّ
الْمُحْسِنِيْنَ ﴿٩٣﴾

၉၃။ 'အီမာန်' ယုံကြည်ခြင်း သဒ္ဓါတရားထားရှိ၍ ကောင်းမြတ်သော သီလများကို ကျင့်မူကြကုန်သော သူတို့အပေါ်ဝယ်၊ ၎င်းတို့သည် (အတိတ်ကာလ၌ "ဟရာမ်" ဟူ၍တားမြစ်ခြင်းမပြုမီ သေစာအရက်ကို ၎င်း၊ လောင်းတမ်းကစားခြင်းဖြင့်ရရှိသော ပစ္စည်း ကို၎င်း၊ အခြားတစုံရာကို၎င်း) စားသုံးမိခဲ့ကြသည့် အတွက် အပြစ်တစုံတရာမျှမရှိချေ။

အကြင်အခါဝယ် ထိုသူတို့သည် (ထိုစဉ်အခါ က တားမြစ်ထားသောအရာများမှလည်း) ကြဉ်ရှောင် ခဲ့ကြကုန်၏။ ထို့ပြင်တဝ ထိုသူတို့သည် (အလ္လာဟ် အရှင်မြတ်၏ အမိန့်ပညတ်တော်များကို) ယုံကြည် ကြ၏။ ("ဆွလာတ်" ဝတ်ပြုခြင်း၊ 'ဆွိယာမ်' ဥပုသ် သီတင်းသီလဆောက်တည်ခြင်း၊ 'ဂျိဟာဒ်' အလ္လာဟ် အရှင်မြတ်၏လမ်းတော်၌ စစ်မက်ပြိုင်ဆိုင်တိုက်ခိုက် ခြင်း၊ အစရှိသည့်) ကောင်းမြတ်သောသီလများကို လည်း ကျင့်မူကြကုန်၏။

ထိုနောက်တဖန် ထိုသူတို့သည် (အလ္လာဟ် အရှင်မြတ်က "ဟရာမ်"ဟူ၍ တားမြစ်တော်မူသော အခါ၊ ထိုတားမြစ်တော်မူသော အရာများမှလည်း) ကြဉ်ရှောင်ကြကုန်၏။ ၎င်းပြင် (ထိုအရာများနှင့် စပ်လျဉ်း၍ ကျရောက်လာသော အမိန့်ပညတ်တော် များကိုလည်း) အီမာန်ယုံကြည်ကြကုန်၏။

ထို့နောက်တဖန် ထိုသူတို့သည် (သဒ္ဒါတရား ထက်သန်စွာနှင့် တဆင့်တိုးပြီး "ဟရာမ်" ဟူ၍ တားမြစ်ထားသော အရာများမှ လွတ်ကင်းနိုင်ခြင်း ငှာ ဒွိဟသံသယ မကင်းသော အရာများမှလည်း) ကြဉ်ရှောင်ကြ၏။ ၎င်းပြင် (ကောင်းမြတ်သော ကျင့်ဝတ်တို့ကို စိတ်ရောကိုယ်ပါ) ကောင်းမွန်စွာ ဖြည့်ကျင့် ဆည်းပူးလျက်လည်း ရှိကြ၏။ အမှန် စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ကောင်း မွန်စွာ ဖြည့်ကျင့် ဆည်းပူးကြကုန်သောသူတို့အား ချစ်ကြည် မြတ်နိုးတော်မူလေသတည်း။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُواْ لَيَبْلُوَنَّكُمُ ٱللَّهُ بِشَيْءٍ مِّنَ ٱلصَّيْدِ تَنَالُهُۥٓ أَيْدِيكُمْ وَرِمَاحُكُمْ لِيَعْلَمَ ٱللَّهُ مَن يَخَافُهُۥ بِٱلْغَيْبِ فَمَنِ ٱعْتَدَىٰ بَعْدَ ذَٰلِكَ فَلَهُۥ عَذَابٌ أَلِيمٌ ﴿٩٤﴾

၉၄။ အို-"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်း တို့၊ ကေန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် မိမိအား အကွယ်၌ မည်သူကြောက်ရွံ့သည်ကို သိတော်မူခြင်း ငှာ အသင်တို့၏ လက်များနှင့် လှံစွပ်များမှီနိုင်သော အချို့ အမဲများဖြင့် အသင်တို့အား စမ်းသပ်တော်မူ မည်။ သို့ဖြစ်ပေရာ မည်သူမဆို ထို(ကဲ့သို့ ထုတ်ဖော် မိန့်ကြားတော်မူပြီး)နောက် (ထိုအမဲများကို ပစ်ခတ် ဖမ်းဆီးခြင်းအားဖြင့်) ကျူးကျော်ခဲ့ပါမူ၊ ထိုသူတို့၏ အတို့ (နောင်တမလွန်ဘဝတွင်) အလွန်နာကျင်ဘွယ် ဖြစ်သော ပြစ်ဒဏ်သည် အဆင်သင့်ရှိပေသည်။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُواْ لَا تَقْتُلُواْ ٱلصَّيْدَ وَأَنتُمْ حُرُمٌ وَمَن قَتَلَهُۥ

၉၅။ အို-"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်း တို့၊ အသင်တို့သည် 'အစ်ဟ်ရာမ်' ဝတ်ရုံကို ဝတ်ဆင် လျက်ရှိကြစဉ်အခါဝယ်၊ အမဲတိရစ္ဆာန်တို့ကို (ပစ်ခတ် ဖမ်းဆီး) *သတ်ဖြတ်ခြင်း မပြုကြကုန်လင့်။* ၁

(၁) **မမွှသတ်။**

၁။ "ဟရာမ်" ဟူ၍သတ်မှတ်ထားသော နယ်နမိတ်အတွင်း၌၎င်း၊ "အစ်ဟ်ရာမ်" ဝတ်ရုံထားသည့် အချိန်တွင်း၌၎င်း၊ သားကောင်များကို ဘမ်းဆီးသတ်ဖြတ်ခြင်းသည် ဟရာမ်ဖြစ်၏။ ထိုသားကောင်များတွင် စားသုံးပိုင်ခွင့်ရှိသော သားကောင်များသည်၎င်း၊ မစားသုံးပိုင်သော သားကောင်များသည်၎င်း၊ အကျုံးဝင်၏။ ➢➢

مِنْكُمْ مُّتَعَمِّدًا فَجَزَآءٌ مِّثْلُ
مَا قَتَلَ مِنَ النَّعَمِ يَحْكُمُ بِهٖ
ذَوَا عَدْلٍ مِّنْكُمْ هَدْيًا بٰلِغَ
الْكَعْبَةِ اَوْ كَفَّارَةٌ طَعَامُ
مَسٰكِيْنَ اَوْ عَدْلُ ذٰلِكَ
صِيَامًا لِّيَذُوْقَ وَبَالَ
اَمْرِهٖ ۗ عَفَا اللّٰهُ عَمَّا سَلَفَ ۗ
وَمَنْ عَادَ فَيَنْتَقِمُ اللّٰهُ مِنْهُ ۗ
وَاللّٰهُ عَزِيْزٌ ذُو انْتِقَامٍ ﴿٩٥﴾

အမှန်စင်စစ်သော်ကား မည်သူမဆို အသင်တို့ အနက်မှ ထိုအမဲတိရစ္ဆာန်များကို တမင်ကြံရွယ်ပြီး သတ်ဖြတ်ခဲ့ပါမူ၊ ထို သတ်ခဲ့သော တိရစ္ဆာန်နှင့် တူမျှသော အခြေလေးချောင်း တိရစ္ဆာန်တကောင်ကို ကုရ်ဗာနီသားကောင်အဖြစ် ကအ်ဗဟ် ကျောင်းတော်သို့ ပို့ဆောင်ခြင်းအားဖြင့် ဒဏ်ဆောင်ရမည်၊ ၎င်း (ဒဏ်ဆောင်ရမည့် တိရစ္ဆာန်)ကို အသင်တို့အနက်မှ တရားမျှတမှုရှိသော ပုဂ္ဂိုလ်နှစ်ဦးသည် ဆုံးဖြတ်၍ ပေးရမည်။ သို့မဟုတ် သူဆင်းရဲတို့အား ဘောဇဉ် ခဲဘွယ်တို့ကို ကျွေးမွေးခြင်းအားဖြင့်သော်၎င်း၊ ယင်း (ကျွေးမွေးရမည့် သူဆင်းရဲတို့၏ ဦးရေ)နှင့်အမျှ ဥပုသ်သီတင်း သီလဆောက်တည်ခြင်း အားဖြင့်သော် ၎င်း၊ အပြစ်ဒဏ်အာပတ်ဖြေရပေမည်။ (ယင်းကဲ့သို့ ဒဏ်ဆောင်စေခြင်းနှင့် အပြစ် အာပတ်ဖြေစေခြင်း မှာ)ထိုသူသည် မိမိပြုမှုချက်၏ရသာကို မြည်းစမ်း ခြင်းငှာ ဖြစ်ချေသည်။

➤➤ ၂။ 'ဆိုဲက်ဒ်' ဟူသည် တောတိရစ္ဆာန်များကို ဆိုလိုသည်။ အိမ်မွေးတိရစ္ဆာန်များကိုမူကား ဥပမာ- ဆိတ်၊ သိုး၊ ကုလားအုဋ် စသည်များကိုမူ ဖမ်ပြုပိုင်ခွင့်၊ စားသုံးပိုင်ခွင့်ရှိသည်။

၃။ ဤမုက္ခပါဠ်တော်တွင် "အသင်တို့သည် အစ်ဟ်ရာမ် ဝတ်ရုံထားသည့်အချိန်၌ အမဲ၊ သားကောင်များကို သတ်ဖြတ်ခြင်း မပြုကြကုန်လင့်" ဟုပါရှိ၏။ သို့ရာတွင် အခြားမုက္ခပါဠ်တော်နှင့် ဟဒီဆ် တော်များက ချွင်းချက်ပြုထားသော တိရစ္ဆာန်များကိုမူကား သတ်ဖြတ်ပိုင်ခွင့်ရှိသည်။ ဥပမာ ကုရ်အာန်ကျမ်းမြတ် (၅း၁၀၀)တွင် ရေသတ္တဝါများကို ဖမ်းဆီးစားသုံးပိုင်ခွင့် ပြုထားတော်မူသည်။ ထို့အတူ တမန်တော်မြတ်ကလည်း ကျီးကန်း၊ စွန်ရဲ၊ ဝံပုလွေ၊ မြွေ၊ ကင်းမီးကောက်၊ ကိုက်တတ်သောခွေး၊ စသော အချို့တိရစ္ဆာန်များကို သတ်ဖြတ်ခွင့် ပြုတော်မူခဲ့လေသည်။ ထို့အတူ သားရဲတိရစ္ဆာန်တကောင်က စတင် ရန်ပြုခဲ့သော် ထိုသို့သော သားရဲတိရစ္ဆာန်ကိုလည်း သတ်ဖြတ်ပိုင်ခွင့်ရှိသည်။

၄။ အစ်ဟ်ရာမ် မဝတ်ဆင်သူတဦးက 'ဟရမ်' အပြင်မှ စားသုံးပိုင်ခွင့်ရှိသော သားကောင်ကို ဖမ်းဆီးလာသော် ထိုသားကောင်၏အသားကို အစ်ဟ်ရာမ်ဝတ်ဆင်ထားသောသူသည် စားသုံးပိုင်ခွင့်ရှိသည်။ သို့ရာတွင် အစ်ဟ်ရာမ်ဝတ်ဆင်ထားသောသူသည် ထိုသားကောင်ကို ဖမ်းဆီးသတ်ဖြတ်ရာတွင် ကူညီယိုင်းပင်းသူ ညွှန်ပြသူမဖြစ်စေရ။

၅။ စိတ်စေတနာပါ၍ သားကောင်ကို သတ်ဖြတ်ခြင်း၌ ဒဏ်ဆောင်ရဘိသကဲ့သို့ စိတ် ➤➤

➤➤ စေတနာမပါပဲမေ့မှား၍ သတ်ဖြတ်မိရာ၌လည်း ဒဏ်ဆောင်ရမည်ပင်ဖြစ်၏။ ခြားနားချက်ကား စိတ်စေတနာပါ၍ သတ်ဖြတ်ခြင်း၌ ဒဏ်ဆောင်ရခြင်းသည် ထိုသူ၏ပြုမူခြင်းကြောင့်ဖြစ်၏။ စိတ်စေတနာမပါဘဲ မေ့မှား၍သတ်ဖြတ်ခြင်း၌ ဒဏ်ဆောင်ရခြင်းသည် နေရာဌာနအတွက်ကြောင့်ဖြစ်၏။

၆။ သားကောင်တကောင်ကို သတ်ဖြတ်မိရာတွင် ထိုသတ်ဖြတ်မိသောနေရာနှင့် ထိုသတ်ဖြတ်မိသော အချိန်တွင် အကောင်းဆုံးမှာ တရားမျှတသူ ၂-ဦး၊ သို့မဟုတ် ၁-ဦး ထံတွင် သတ်ဖြတ်မိသော အဆိုပါတိရစ္ဆာန်၏ တန်ဘိုးကို အဆုံးအဖြတ်ခံယူရမည်။ အကယ်၍ ထိုသတ်ဖြတ်မိသော တိရစ္ဆာန်သည် မစားသုံးပိုင်သော တိရစ္ဆာန်ဖြစ်ပါက ထိုတိရစ္ဆာန်၏တန်ဘိုးသည် ဆိတ်တကောင်၏ တန်ဘိုးထက်ပိုမို၍ သင့်မည်မဟုတ်ချေ။ အကယ်၍ သတ်ဖြတ်မိသော ထိုတိရစ္ဆာန်သည် စားသုံးပိုင်သော တိရစ္ဆာန်ဖြစ်ပါမူ အဆုံးအဖြတ်ပေးသူ၏ အဆုံးအဖြတ်အတိုင်းပင် အတိအကျဒဏ်ဆောင်ရပေမည်။

ဒဏ်ဆောင်နည်းကား သုံးမျိုးသုံးစားရှိ၏။ ထိုသုံးမျိုးသုံးစားအနက် မိမိကြိုက်နှစ်သက်ရာနည်းကို ရွေးချယ်နိုင်၏။

(၁) အဆုံးအဖြတ်ပေးထားသော တန်ဘိုးနှင့်အမျှ ကုရ်ဗာနီ စည်းကမ်းချက်များနှင့် အညီ သားကောင်ကိုဝယ်ယူ၍ ဟရမ် နယ်နိမိတ်အတွင်းတွင် ပို့ဆောင်ပြီး ဇဗ်ဟ်ပြုလုပ်၍ ဆင်းရဲသားများကို ဝေငှရမည်။

(၂) သို့မဟုတ် အဆုံးအဖြတ်ပေးထားသော တန်ဘိုးနှင့်အမျှ "ဆွဒကဟ် ဖစ်တွရ်" ၏ စည်းကမ်းချက်များနှင့်အညီ ကောက်ပဲသီးနှံကို ဝယ်ယူပြီးလျှင် ဆင်းရဲသားများကိုတဦးလျှင် 'ဆွာအ်' တဝက်စီ အချိုးကျပေးရမည်။

(၃) သို့တည်းမဟုတ် ဆင်းရဲသားတဦးလျှင် 'ဆွာအ်' တဝက်စီ အချိုးကျဖြင့် ကောက်ပဲသီးနှံ ဝေငှနိုင်သည်။ ဆင်းရဲသားလူဦးရေနှင့်အမျှ ဆွိယာမ်ဥပုသ် ဆောက်တည်ရမည်။ (ဥပမာ-သတ်ဖြတ်မိသော သားကောင်၏ တန်ဘိုးနှင့်အမျှ ဝယ်ယူသော ကောက်ပဲသီးနှံသည် ဆွာအ်တဝက်ကျဖြင့် ဆင်းရဲသား ၁၀-ဦးကို ဝေငှနိုင်လျှင် ၁၀-ရက် ဥပုသ်ဆောက်တည်ရမည် ဖြစ်သည်)။

၇။ ကောက်ပဲသီးနှံ ဝေငှရာတွင်၎င်း၊ ဥပုသ်ဆောက်တည်ရာတွင်၎င်း၊ "ဟရမ်" အတွင်း၌သာလျှင် ပြုလုပ်ရမည်ဟူ၍ စည်းကမ်းချက်မရှိချေ။ အကယ်၍ အဆုံးအဖြတ်ပေးထားသော တန်ဘိုးငွေသည် ဆွာအ် တဝက်ထက်လျော့၍ ထိုက်သင့်လျှင် ထိုတန်ဘိုးကို ဆင်းရဲသားတဦးကိုလည်း ပေးနိုင်သည်။ ထိုတန်ဘိုးအစား ဥပုသ် တရက်ဆောက်တည်လိုကလည်း ဆောက်တည်နိုင်ပေသည်။ ထို့အတူ ဆင်းရဲသားများကို ဆွာအ် တဝက်စီ အချိုးကျပေးဝေပြီးနောက် အကယ်၍ ဆွာအ် တဝက်ထက်လျော့၍ ကျန်နေခဲ့သည်ရှိသော် ထိုကျန်နေသော ကောက်ပဲသီးနှံကို ဆင်းရဲသားတဦးအား ပေးလိုကလည်း ပေးနိုင်သည်။ ဥပုသ်တရက် ဆောက်တည်လိုကလည်း ဆောက်တည်နိုင်ပေသည်။

၈။ အဆုံးအဖြတ်ပေးထားသော တန်ဘိုးငွေနှင့်အမျှ ကောက်ပဲသီးနှံဝေငှနိုင်သော ဆင်းရဲသားဦးရေနှင့် အညီ ထိုဆင်းရဲသားများကို ထမင်းကျွေးလိုက (နံက်၊ ညဉ့်နှစ်ကြိမ်) ဝဝလင်လင်ကျွေးမွေးကလည်း ပိုင်သည်။

၉။ အဆုံးအဖြတ်ပေးထားသော တန်ဘိုးငွေနှင့်အမျှ တိရစ္ဆာန်တကောင်ကို ဝယ်ရာ၌ ငွေအနည်းငယ် ပိုနေသည်ရှိသော် ထိုငွေပိုဖြင့် အခြားတိရစ္ဆာန်တကောင်ကိုသော်၎င်း၊ ကောက်ပဲသီးနှံကိုသော်၎င်း၊ ဝယ်၍ ဆင်းရဲသားများကိုလည်း ဝေငှနိုင်သည်။ သို့မဟုတ် ကောက်ပဲသီးနှံဝေငှနိုင်သော ဆင်းရဲသားလူဦးရေ ➤➤

အလ္လာဟ်အရှင်မြတ်သည် လွန်လေပြီးသော အပြစ်တို့ကို ခွင့်လွှတ်တော်မူခဲ့ပြီးဖြစ်၏။ သို့ရာတွင် မည်သူမဆို ထပ်မံ၍ ပြုကျင့်ပါမူ၊ အလ္လာဟ်အရှင်မြတ်သည် ထိုသူအားလက်စားချေတော်မူအံ့။ အမှန်သော်ကား အလ္လာဟ် အရှင်မြတ်သည် တန်ခိုးအာနုဘော်ဖြင့်လွှမ်းမိုးတော်မူသောအရှင်၊ လက်စားချေတော်မူသော အရှင် ဖြစ်တော်မူပေသတည်း။

أُحِلَّ لَكُمْ صَيْدُ الْبَحْرِ وَطَعَامُهُ مَتَاعًا لَّكُمْ وَلِلسَّيَّارَةِ ۖ وَحُرِّمَ عَلَيْكُمْ صَيْدُ الْبَرِّ مَا دُمْتُمْ حُرُمًا ۗ وَاتَّقُوا اللَّهَ الَّذِي

၉၆။ အသင်တို့အဖို့ ("အစ်ဟ်ရာမ်" ဝတ်ရုံကို ဝတ်ဆင်ထားသည့် အချိန်၌) ပင်လယ်(ဝါ) ရေသတ္တဝါများကိုဖမ်းခြင်းနှင့်၊ ၎င်းတို့ကို စားသုံးခြင်းသည် *"ဟလာလ်"ဟူ၍ခွင့်ပြုထားပြီးဖြစ်၏။* [၁] (သို့ခွင့်ပြုခြင်းကား) အသင်တို့၏ အကျိုးငှာရင်း၊ ခရီးသည် များ၏ အကျိုးငှာရင်း၊ ဖြစ်ပေသည်။

---

➤➤ နှင့်အမျှ ဥပုသ် ဆောက်တည်လိုကလည်း ဆောက်တည်နိုင်သည်။

၁၀။ သားကောင်တကောင်ကို သတ်ဖြတ်မိရာတွင် ဒဏ်ဆောင်ရသကဲ့သို့ ထိုသို့သော သားကောင်တကောင်ကိုအနာတရ ဖြစ်စေမိခဲ့သော် ယင်းသို့အနာတရဖြစ်စေခဲ့သည့်အတွက်ကြောင့် ထိုသားကောင်၏ လျော့နည်းသွားသော တန်ဘိုးကို အထက်တွင်ဖေါ်ပြပါ ဒဏ်ဆောင်ခြင်းသုံးနည်းအနက် တနည်းနည်းဖြင့် ဒဏ်ဆောင်ရမည်။

၁၁။ အစ်ဟ်ရာမ် ဝတ်ဆင်ထားသူများအဖို့ အကြင်သားကောင်ကို ဖမ်းဆီးသတ်ဖြတ်ခြင်းသည် ဟရာမ်ဖြစ်လျှင် ထိုသားကောင်ကို ဇဗ်ဟ်လီးဖြတ်ခြင်းသည်လည်း ဟရာမ်ပင်ဖြစ်၏။ အကယ်၍ ဇဗ်ဟ်လီးဖြတ်ခဲ့သည်ရှိသော် ထိုသားကောင်သည် အသေသားကဲ့သို့ပင်ဖြစ်၏။ မစားသုံးပိုင်ချေ။

၁၂။ သားကောင်ကို သတ်ဖြတ်မိသောနေရာသည် တောဖြစ်လျှင်ထိုတောနှင့် အနီးဆုံးဖြစ်သော လူနေရပ်ကွက်၏ တန်ဘိုးအလိုက် သားကောင်၏တန်ဘိုးကို ဆုံးဖြတ်ပေးရမည်။

၁၃။ သားကောင်ကို ဖမ်းဆီးသတ်ဖြတ်ရာ၌ ညွှန်ခြင်း၊ ပြခြင်း၊ ကူညီယိုင်းပင်းခြင်းများသည်လည်း ကာယကံမြောက် အမဲလိုက်ခြင်းကဲ့သို့ပင် ဟရာမ်ဖြစ်၏။ ဆိုလိုသည်ကား သားကောင်များကို မသတ်ဖြတ်ရဟူသော ပညတ်တော်တွင် သတ်ဖြတ်ဖမ်းဆီးခြင်းနှင့် သက်ဆိုင်သမျှ အကြောင်းအရာအားလုံးသည် အကျုံးဝင်ပေသည်။

၁၄။ သားကောင်သတ်ဖြတ်မိသူသည် 'မုဟ်ရင်မ်' မဟုတ်လျှင် အထက်တွင်ဖေါ်ပြပါ ဒဏ်ဆောင်နည်း သုံးမျိုးအနက် တတိယနည်းဖြစ်သော ဥပုသ်ဆောက်တည်ခြင်း အားဖြင့် ဒဏ်ဆောင်ပိုင်ခွင့် မရှိချေ။

ထာနဝီ၊ အ၃၊စ၆၃။

(၁) ရေကြောင်းခရီးသည်များအဖို့ 'အစ်ဟ်ရာမ်'အတွင်း၌ပင် ရေသတ္တဝါများကို ဖမ်းဆီး စားသုံးပိုင်ခွင့် ပြုထားတော်မူသည်။ ဤသည် ၎င်းတို့အဖို့ ထူးခြားသော ဂရုဏာတော်ပင်ဖြစ်သည်။ ➤➤

إِلَيْهِ تُحْشَرُونَ ﴿٩٦﴾

သို့ရာတွင် အသင်တို့ "အစ်ဟ်ရာမ်" ဝတ်ရုံကို ဝတ်ဆင်လျက် ရှိသမျှကာလပတ်လုံး ကုန်းသတ္တဝါများကိုမူ အမဲလိုက်ခြင်းသည် အသင်တို့အပေါ်၌ "ဟရာမ်" ဟူ၍ တားမြစ်ပြီး ဖြစ်ချေသည်။ (သို့ဖြစ်ပေရာ) အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ထို (အလ္လာဟ်)အရှင်မြတ်ထံတော်၌သာ အသင်တို့သည် (ပြန်လည်၍) စုရုံးကြရမည်ဖြစ်သည်။

جَعَلَ اللَّهُ الْكَعْبَةَ الْبَيْتَ الْحَرَامَ قِيَامًا لِّلنَّاسِ وَالشَّهْرَ الْحَرَامَ وَالْهَدْيَ وَالْقَلَائِدَ ۚ ذَٰلِكَ لِتَعْلَمُوا

၉၇။ အလ္လာဟ် အရှင်မြတ်သည် မြင့်မြတ်သော *"ကအ်ဗဟ်" အိမ်တော်ကိုငှင်း၊* [၁] ထူးမြတ်သောလများကိုငှင်း၊ (ကုရ်ဗာန် ပြုမည်ဖြစ်သော) "ကုရ်ဗာနီ" သားကောင်များကိုငှင်း၊ (ကုရ်ဗာန်ပြုလုပ်ရန်) လည်ပတ်ကြိုးအစရှိသည်ကို တပ်ဆင်ထားသော သားကောင်များကိုငှင်း၊ လူတို့အတွက် (သာသနာရေးနှင့် လောကီရေးများ) တည်မြဲစေရန် အကြောင်းပြုလုပ်ထားတော်မူ၏။

➢➢ "ဗဟ်ရ်" ဟူသည် သမုဒ္ဒရာကိုသာလျှင် ဆိုလိုသည်မဟုတ်။ ချောင်း၊ မြောင်း၊ တူးမြောင်း၊ မြစ်၊ အင်း၊ အိုင်၊ ရေကန်ကြီးငယ်စသည် အားလုံးကိုဆိုလိုသည်။

(၁) အဘိဓာန်သဘောအရ "ကအ်ဗဟ်" ဟူသောပုဒ်သည် စတုရန်း လေးထောင့်ရှိသောအရာကို ဆို၏။ အချို့ပညာရှင်များ၏ ယူဆချက်အရ "ကအ်ဗဟ်" ဟူသောပုဒ်သည် မြင့်မောက်သော အရာကိုဆို၏။ ယင်း "ကအ်ဗဟ်" ဟူသောအမည်သည် အရဗ်နိုင်ငံ မက္ကာမြို့တော်တွင် နဗီတမန်တော်အစ်ဗရာဟီမ် (အလိုင်ဟစ္စလာမ်) ပြန်လည်တည်ဆောက်ခဲ့သော အလ္လာဟ်အရှင်မြတ်၏ အိမ်တော်ကိုဆိုလိုသည်။

မြင့်မြတ်သော 'ကအ်ဗဟ်' ကျောင်းတော်သည် လူသားတို့အတွက် လောကီလောကုတ္တရာ နှစ်ဖြာသော ကောင်းကျိုးချမ်းသာအဖြာဖြာ ဆောက်တည်ရာဌာနကြီးဖြစ်၏။ ဟဂ်ျ၊ အွန်မ်ရဟ် ကျင့်ဝတ်များသည် ကအ်ဗဟ်ကျောင်းတော်နှင့် တိုက်ရိုက်သက်ဆိုင်၏။ ဆွလာတ်ဝတ်ပြုရာတွင်လည်း ယင်းကျောင်းတော်ဘက်သို့ပင် မျက်နှာမူကြရ၏။ ဟဂ်ျပြုရန်အတွက် ထောင်ပေါင်းများစွာသော မွတ်စ်လင်မ်တို့သည် ကမ္ဘာအရပ်ရပ်မှ ကအ်ဗဟ်ကျောင်းတော်သို့ လာရောက် စုရုံးကြရ၏။ ယင်းသို့ စုရုံးခြင်းအားဖြင့် သာသနာရေး၊ နိုင်ငံရေး၊ စီးပွားရေး၊ ပေါင်းသင်းဆက်ဆံရေး အစရှိသည့် အဇ္ဈတ္တ၊ ဗဟိဒ္ဓ အကျိုးများကို ဆည်းပူးနိုင်ကြ၏။

အလ္လာဟ်အရှင်မြတ်သည် ကျောင်းတော်ပရဝုဏ်ကို အဘယဌာနီ ဆားရန်အပေါင်းကင်းဆေးရာ ဌာနကြီး ပြုလုပ်ထားတော်မူသဖြင့် လူသားများသာမက တိရစ္ဆာန်များသည်ပင် ဘေးရန်ကင်းစွာနေကြရ၏၊ ➢➢

أَنَّ اللّٰهَ يَعْلَمُ مَا فِى السَّمٰوٰتِ وَمَا فِى الْاَرْضِ وَاَنَّ اللّٰهَ بِكُلِّ شَىْءٍ عَلِيْمٌ ﴿٩٧﴾

ဤကဲ့သို့ ပြုလုပ်တော်မူခြင်းကား အလ္လာဟ် အရှင်မြတ်သည် မိုးများ၌ ရှိသမျှတို့ကိုဂင်း၊ ပထဝီ၌ ရှိသမျှတို့ကိုဂင်း၊ သိရှိတော်မူသည်ကို အသင်တို့ ယုံကြည်ကြရန်ဖြစ်သည်။ ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိရှိ တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

**တနည်း။**

အလ္လာဟ် အရှင်မြတ်သည် မြင့်မြတ်သော "ကအ်ဗဟ်" အိမ်တော်ကို လူသားတို့၏အကျိုး တည်ရှိနေစေရန် အကြောင်းပြုထားတော်မူသည်။ ထိုနည်းအတူ မြင့်မြတ်သောလများကိုဂင်း၊ (ဟရမ် အတွင်း) ကုရ်ဗာနီပြုမည့် သားကောင်များကိုဂင်း၊ (ဟရမ်အတွင်း၌ အလ္လာဟ်အရှင်မြတ်အားရည်စူး၍ ဇဗ်ဟ်ပြုလုပ်ရန်ဖြစ်သော) လည်ပတ်ကြိုးပါရှိသော သားကောင်များကိုဂင်း၊ (လူသားတို့အကျိုး တည်ရှိ နေစေရန်အကြောင်း ပြုလုပ်ထားတော်မူသည်၊)

---

➢➢ ကျူးကျော်စော်ကားမှု၊ သတ်ဖြတ်မှုများတွင် နစ်မွန်းလျက်ရှိခဲ့သော အမိုက်ခေတ်မှာပင် လူတယောက်သည် မိမိ၏ဘခင်အား သတ်ဖြတ်သူကို 'ဟရမ်' အတွင်း၌ တွေ့ပါက ကျောင်းတော်ကို လေးစားသောအားဖြင့် သေးရန်မပြုခဲ့ပေ။ ကျောင်းတော်သည် လွင်တီးခေါင် သဲကန္တာရကြီးထဲတွင် တည်ရှိငြား သော်လည်း ကမ္ဘာအရပ်ရပ်မှ အမြိန့်အရသာနှင့်ပြည့်စုံသော စားဘွယ်သောက်ဘွယ်များသည် ကျောင်းတော်သို့ ပေါများစွာ ရောက်လျက်ရှိသည်မှာ လည်း အံ့မဆုံးပင်ဖြစ်၏။

"အလ္လာဟ်အရှင်မြတ်သည် မြင့်မြတ်သော အိမ်တော်ကို လူသားတို့အကျိုး တည်ရှိစေရန်အကြောင်း ပြုလုပ်ထားတော်မူသည်" ဟူသော မုက္ခပါဌ်တော်တွင် အထက်၌ဖေါ်ပြပါ အကျိုးကျေးဇူးများသည် အကျုံးဝင်လျက် ရှိ၏။ ဤမျှမကသေး ကမ္ဘာအဝှန်းရှိ လူသားအားလုံးတို့အဘို့ တရားဓမ္မတည်းဟူသော စမ်းရေချောင်းကြီး သည်လည်း ဤနေရာ ဤဌာနမှပင် အမြဲတစေ စီးဆင်းဖြာထွက်စေတော်မူ၏။ ကမ္ဘာ့ဦးစီး ခေါင်းဆောင်ကြီး ဖြစ်သော တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည်လည်း ဤနေရာ ဤဌာနမှာပင် မီးရှူးသန့်စင် ဘွားမြင်တော်မူမည်ကိုလည်း အလ္လာဟ်အရှင်မြတ်သည် မိမိ၏ သဗ္ဗညုတ ဉာဏ်တော်ဖြင့် သိရှိတော်မူပြီးဖြစ်၏။ ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ရန်အလို့ငှာ ဦးစွာပဌမ တည်ဆောက်တော်မူသော ကျောင်းတော်မှာလည်း ဤကျောင်းတော်ပင်ဖြစ်၏။ ကြည့်-ကုရ်အာန် (၃း၉၅) ➢➢

ယင်းသို့ ပြုလုပ်ထားတော်မူခြင်းမှာ မိုးများ၌ ရှိရှိသမျှတို့ကိုဋ်း၊ မြေ၌ ရှိရှိသမျှတို့ကိုဋ်း၊ ဧကန်မုချ အလ္လာဟ် အရှင်မြတ်သည် အကြွင်းမဲ့သိရှိတော်မူသည်ကို အသင်တို့ ယုံကြည်ကြရန်ပင်ဖြစ်၏။ အမှန်သော်ကား အလ္လာဟ် အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

اِعۡلَمُوۡۤا اَنَّ اللّٰهَ شَدِيۡدُ الۡعِقَابِ وَاَنَّ اللّٰهَ غَفُوۡرٌ رَّحِيۡمٌ ؕ ﴿۹۸﴾

**၉၈။** ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် (တစုံတရာကို ထိုအရှင်မြတ်နှင့် တွဲဖက် ကိုးကွယ်ခြင်း၊ အမိန့်တော်ကို သွေဖည်ငြင်းပယ်ခြင်း၊ အစရှိသောပြစ်မှုများနှင့် မိမိတို့ကိုယ်ကို ဖုံးလွှမ်းစေသောသူတို့အား) အလွန်ပြင်းထန်စွာ ပြစ်ဒဏ်ပေးတော်မူမည်ဖြစ်ကြောင်းနှင့် စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် (ထို တဆူတည်းသော အရှင်မြတ်အား ယုံကြည်ဆည်းကပ်၍ ကောင်းမြတ်သော သီလများကို ဆောက်တည်ကြကုန်သောသူတို့အား) အလွန်တရာမျှ လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူသောအရှင်၊ အလွန်တရာမျှ သနား ညှာတာတော်မူသောအရှင်ဖြစ်တော်မူကြောင်းကို အသင်တို့သည်ကောင်းစွာ သိထားကြလေကုန်။

---

➤➤ ဤကျောင်းတော် တည်ရှိနေခြင်းသည် ကမ္ဘာတည်ရှိနေခြင်း၏ အကြောင်းတရားပင် ဖြစ်၏။ ဤကျောင်းတော်တည်ရှိ၍ ဤကျောင်းတော်ကို လေးစားသူများရှိနေသမျှကာလပတ်လုံး ကမ္ဘာကြီးသည် တည်ရှိနေမည်ဖြစ်၏။ အလ္လာဟ်အရှင်မြတ်သည် ဤကမ္ဘာကြီးကို အဆုံးသပ်တော် မူလိုသောအခါတွင် ဦးစွာပဌမ ဤကျောင်းတော်ကိုပင် ရုပ်သိမ်းတော်မူမည်ဖြစ်၏။ (ဤအကြောင်းဗုခါရီ ကျမ်းတွင်လည်းတွေ့ရှိရ၏)။

အလ္လာဟ်အရှင်မြတ်သည် ဤကမ္ဘာကြီးကို တည်ရှိစေရန် ဆန္ဒထားရှိတော်မူသမျှ ကာလပတ်လုံး ဤကျောင်းတော်ကို မည်သူတဦးတယောက်မျှ ဖျက်ဆီးနိုင်မည်မဟုတ်ပေ၊ ဤအကြောင်းများကို ထောက်ရှုခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်သည် ဤကျောင်းတော်ကို ကမ္ဘာ့လူသားတို့၏အကျိုးငှာ ပြုလုပ်ထားတော်မူခြင်းမှာ မျက်မြင်ဒိဋ္ဌပင်ဖြစ်ချေသတည်း။

مَا عَلَى الرَّسُولِ إِلَّا الْبَلَٰغُ ۗ وَاللَّهُ يَعْلَمُ مَا تُبْدُونَ وَمَا تَكْتُمُونَ ﴿٩٩﴾

**၉၉။** ရစူလ်တမန်တော် (မုဟမ္မဒ်)၏ အပေါ်၌ (အလ္လာဟ်အရှင်မြတ်၏ အမိန့်ဗျာဒိတ်တော်များကို လူတို့ထံသို့) ပို့ဆောင်(ဟောကြား)ရန် တာဝန်သာ ရှိ၏။ အသင်တို့ ထင်ရှားစွာ ပြုလုပ်သောအရာများကိုငှင်း၊ အသင်တို့ ထိမ်ချန် လျှို့ဝှက်စွာပြုသော အရာများကိုငှင်း၊ စင်စစ် အလ္လာဟ်အရှင်မြတ်သည် ကောင်းစွာ သိရှိတော်မူပေသတည်း။

قُل لَّا يَسْتَوِي الْخَبِيثُ وَالطَّيِّبُ وَلَوْ أَعْجَبَكَ كَثْرَةُ الْخَبِيثِ ۚ فَاتَّقُوا اللَّهَ يَا أُولِي الْأَلْبَابِ لَعَلَّكُمْ تُفْلِحُونَ ﴿١٠٠﴾

**၁၀၀။** (အို-နဗီတမန်တော်) အသင်သည် (ဤသို့) ပြောကြားပါလေ။ မသန့်ရှင်းမစင်ကြယ်သော အရာများ၏ပေါ်များမှုသည် အသင့်အား ဝမ်းသာအားရစေသော်လည်း မသန့်ရှင်းမစင်ကြယ်သော *အရာများနှင့် သန့်ရှင်းစင်ကြယ်သောအရာများသည် မတူချေ။*[1] သို့ဖြစ်ပေရာ အို-ခွဲခြားသိနိုင်သော နိသမ္မ ဉာဏ်ရှင် အပေါင်းတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ သို့မှသာလျှင် အသင်တို့သည် အောင်မြင်ကြလတ္တံ့။

---

(၁) သန့်ရှင်းသောအရာနှင့် မသန့်ရှင်းသောအရာသည် မတူချေ။ သန့်ရှင်းသော အပြုအမူနှင့် မသန့်ရှင်းသော အပြုအမူသည် မတူချေ၊ သန့်ရှင်းသောသူနှင့် မသန့်ရှင်းသောသူလည်း မတူချေ။ စင်ကြယ်သန့်ရှင်း အပြစ်ကင်း၍ 'ဟလာလ်' ဖြစ်သော အရာသည် အဘယ်မျှပင် နည်းလင့်ကစား များစွာသော ဟရာမ်ဖြစ်သော အရာများထက် ပိုမို ကောင်းမြတ်သည်သာလျှင် ဖြစ်၏။ သို့ဖြစ်ပေရာ ကောင်းစွာ စဉ်းစားဆင်ခြင်တတ်သော နိသမ္မဉာဏ်ရှင် အပေါင်းတို့သည် စင်ကြယ်သန့်ရှင်း အပြစ်ကင်း၍ 'ဟလာလ်' ဖြစ်သော အရာကိုသာလျှင် ရွေးချယ်ကြရပေမည်။ အရေအတွက်ကား အဓိကမဟုတ်၊ အရည်အခြင်းသာလျှင် အဓိကဖြစ်ပေသည်၊ မသန့်ရှင်းသော ဟရာမ်ဖြစ်သော အရာကိုမူကား အဘယ်မျှပင် များပြားလင့်ကစား အမြင်အားဖြင့် အဘယ်မျှပင် နှစ်သက်ဘွယ်ရာ ဖြစ်လင့်ကစား မနှစ်ခြိုက်အပ်ပေ၊ စိတ်ကူး၌ပင် မထည့်အပ်ပေ။

အလ္လာဟ်အရှင်မြတ်သည် သဗ္ဗညုတ ဉာဏ်တော်ရှင်ဖြစ်တော်မူ၏။ တန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူသောအရှင်လည်း ဖြစ်တော်မူ၏။ လိုအပ်သမျှသော အရာများကိုလည်း လိုလေသေးမရှိ ပြုပြင် စီရင်ထားတော်မူ၏။ တရားဓမ္မဟောကြားရန် နဗီတမန်တော်များကိုလည်း စေလွှတ်တော်မူ၏။ တရားမျှတစွာ စီရင်တော်မူသော အရှင်လည်းဖြစ်တော်မူ၏။ သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်သည် သန့်ရှင်းသူနှင့် မသန့်ရှင်းသူ သူတော်စင်နှင့် သူယုတ်မာ၊ လူကောင်းနှင့်လူဆိုး၊ တရားသူနှင့်မတရားသူ၊ ပြုပြင်သူနှင့်ဖျက်ဆီးသူ၊ စော်ကားသူနှင့် စော်ကားခြင်းခံရသူ၊ ပညာရှိနှင့်ပညာမဲ့၊ မုအ်မင်န်နှင့်ကာဖိရ်များကို လျစ်လျူပြုထားတော်မူမည်မဟုတ်၊ ►►

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ لَا تَسْـَٔلُوا۟ عَنْ أَشْيَآءَ إِن تُبْدَ لَكُمْ تَسُؤْكُمْ وَإِن تَسْـَٔلُوا۟ عَنْهَا حِينَ يُنَزَّلُ ٱلْقُرْءَانُ تُبْدَ لَكُمْ عَفَا ٱللَّهُ عَنْهَا ۗ وَٱللَّهُ غَفُورٌ حَلِيمٌ ﴿١٠١﴾

၁၀၁။ အို-သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် (နဗီတမန်တော်မြတ်ထံ မဖွယ်မရာသော) အကြင် (အကြောင်း)အရာများနှင့် စပ်လျဉ်း၍ လျှောက်ထား မေးမြန်းခြင်းကို မပြုကြကုန်လင့်။ အကယ်၍သာ ထို(အကြောင်း)အရာများကို အသင်တို့ရှေ့ဝယ် ထုတ်ဖော် (ပြောဆို)ခဲ့သည် ရှိသော် အသင်တို့အဘို့ [မကောင်းဖြစ်ပေအံ့]။ (တနည်း) [မနှစ်သက်ဘွယ်ဖြစ်ပေအံ့]။ သို့ရာတွင် အကယ်၍သာ အသင်တို့သည် ထို (အကြောင်း)အရာ များနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းတော်မြတ်ကျရောက်နေစဉ် အခါကာလ၌ လျှောက်ထား မေးမြန်းကြပါမူ ထို (အကြောင်း)အရာများသည် အသင်တို့ရှေ့ဝယ် ထုတ်ဖော်ပြီးဖြစ်အံ့။ ယင်းသို့သော အရာများနှင့် စပ်လျဉ်း၍ (အတိတ်တွင်မေးခဲ့ကြသည်များကိုမူကား) အလ္လာဟ်အရှင်မြတ်သည် ခွင့်လွှတ်တော်မူ၏။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသော အရှင်၊ အလွန်တရာ ခန္တီတရားနှင့် ပြည့်စုံတော်(မူ၍ သည်းခံတော်)မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

قَدْ سَأَلَهَا قَوْمٌ مِّن قَبْلِكُمْ ثُمَّ أَصْبَحُوا۟ بِهَا كَٰفِرِينَ ﴿١٠٢﴾

၁၀၂။ အသင်တို့အလျင် အထက်ကျော်ကာရှိ၌ရှိခဲ့ကြသောသူတို့သည်လည်း ယင်းကဲ့သို့သောအကြောင်းအရာများကို မေးမြန်းခဲ့ဘူးကြလေသည်။ [၁] ထို့နောက် ၎င်းတို့သည် ယင်းအကြောင်းအရာများကို မယုံမကြည် သွေဖည်ငြင်းပယ်ကြကုန်သတည်း။

>> တမျိုးတစားတည်း ထားတော်မူမည်လည်းမဟုတ်၊ တရားသဖြင့် ကျိုးပြစ်ပေးတော်မူမည်သာဖြစ်၏။

(၁) အချည်းနှီးသော၊ မလိုသော၊ အကြောင်းမဲ့ဖြစ်သော အရာများနှင့်စပ်လျဉ်း၍ အတိတ်ခေတ်တွင် မဖွယ်မရာ မေးမြန်းခဲ့သူများမှာ အစ္စရာအီလီမျိုးနွယ်ဝင်များ ဖြစ်ကြသည်ဟူ၍ အများအားဖြင့် ပညာရှင်များသည် >>

مَا جَعَلَ اللّٰهُ مِنۢ بَحِيْرَةٍ وَّلَا سَآئِبَةٍ وَّلَا وَصِيْلَةٍ وَّلَا حَامٍ ۙ وَّلٰكِنَّ الَّذِيْنَ كَفَرُوْا يَفْتَرُوْنَ عَلَى اللّٰهِ الْكَذِبَ ۗ وَاَكْثَرُهُمْ لَا يَعْقِلُوْنَ ﴿١٠٣﴾

**၁၀၃။** [အလ္လာဟ် အရှင်မြတ်သည် "ဗဟီရဟ်" ကိုလည်း (ရှရီအတ်တရားဥပဒေတွင်) သတ်မှတ်ပြဋ္ဌာန်းတော်မူခဲ့သည် မဟုတ်ပေ။ "စာအိဗဟ်" ကိုလည်း သတ်မှတ် ပြဋ္ဌာန်းတော်မူခဲ့သည် မဟုတ်ပေ။ "ဝဆီလဟ်" ကိုလည်း သတ်မှတ်ပြဋ္ဌာန်းတော်မူခဲ့သည် မဟုတ်ပေ။ "ဟာမီ" ကိုလည်း အသိအမှတ်ပြုတော်မူခဲ့သည်မဟုတ်ပေ။ သို့ရာတွင် မယုံမကြည်သွေဖည်ငြင်းပယ်သောသူတို့မှုကား အလ္လာဟ်အရှင်မြတ်အပေါ်၌ မဟုတ်မမှန်လုပ်ကြံ၍ မုသားစကား ပြောဆိုကြကုန်၏။ စင်စစ်သော်ကားငင်းတို့အနက် များစွာသောသူတို့သည် အသိဉာဏ်ကင်းမဲ့ကြကုန်သတည်း။

وَاِذَا قِيْلَ لَهُمْ تَعَالَوْا اِلٰى مَآ اَنْزَلَ اللّٰهُ وَاِلَى الرَّسُوْلِ قَالُوْا حَسْبُنَا مَا وَجَدْنَا عَلَيْهِ اٰبَآءَنَا ۗ اَوَلَوْ كَانَ اٰبَآؤُهُمْ لَا يَعْلَمُوْنَ شَيْـًٔا وَّلَا يَهْتَدُوْنَ ﴿١٠٤﴾

**၁၀၄။** ၎င်းပြင် ထိုသူတို့အား "အသင်တို့သည် အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ်တော်မူသော အမိန့်တော်များနှင့် ရစူလ် တမန်တော်ဖက်သို့ လာကြလေကုန်" ဟု ပြောဆိုသောအခါ၊ ထိုသူတို့က "ကျွန်ုပ်တို့အဘို့ အကြင်လမ်းစဉ်သည် လုံလောက်ပေသည်။ ထိုလမ်းစဉ်ပေါ်၌ ကျွန်ုပ်တို့သည် မိမိတို့၏အဘ၊ ဘိုး၊ ဘေး၊ ဘီ၊ ဘင်တို့အား တွေ့ရှိခဲ့ကြသည်" ဟု ဖြေကြား၏။ အကယ်၍ ၎င်းတို့၏ အဘ၊ ဘိုး၊ ဘေး၊ ဘီ၊ ဘင် တို့သည် မည်သည့်တစုံတရာကိုမျှ မသိ နားမလည်ကြသည့်ပြင် (ကောင်းကင်ကျ) တရားလမ်းစဉ်ကိုပင် မရရှိကြသော်လည်း (၎င်းတို့ ၎င်းအဘို့၊ ၎င်းတို့၏ အဘ၊ ဘိုး၊ ဘေး၊ တို့၏ လမ်းစဉ်သည် ၎င်းတို့အဘို့ လုံလောက်ပါသလော။ အလျှင်းမလုံလောက်ပေ။ )

➤➤ ယူဆကြပေသည်။ ယင်းသို့မေးမြန်းသော အခြားသူများလည်း ဤမုက္ကဒ္ဒိမဟ်တော်တွင် အကျုံးဝင်နိုင်ပေသည်။

ကြည့်-မာဂျိဒီ၊ အစောင်-၂၊ စာမျက်နှာ-၂၇၂၊ အောက်ခြေအမှတ်-၃၁၆။
ထာနဝီ၊ အစောင်-၂၊ စာမျက်နှာ-၆၇။

يَاَيُّهَا الَّذِيْنَ اٰمَنُوْا عَلَيْكُمْ اَنْفُسَكُمْ لَا يَضُرُّكُمْ مَّنْ ضَلَّ اِذَا اهْتَدَيْتُمْ اِلَى اللّٰهِ مَرْجِعُكُمْ جَمِيْعًا فَيُنَبِّئُكُمْ بِمَا كُنْتُمْ تَعْمَلُوْنَ ﴿١٠٥﴾

၁၀၅။ အို-"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် မိမိတို့ကိုယ်ကို မိမိတို့ ထိန်းသိမ်းစောင့်ရှောက်ရန်အတွက်သာလျှင် ပူပန်ကြလေကုန်။ အသင်တို့၏တရားလမ်းစဉ်အတိုင်း (မတိမ်းမစောင်း) လိုက်နာနေကြပါလျှင်၊ တရားလမ်းမှားသောသူသည် အသင်တို့ကို (မည်သို့မျှ) အကျိုးယုတ် နစ်နာစေနိုင်မည် မဟုတ်ပေ။

အသင်တို့ အားလုံးတို့သည် နောက်ဆုံးတွင် အလ္လာဟ် အရှင်မြတ် အထံတော်သို့သာလျှင် ပြန်ကြရလတ္တံ့။ ထိုအခါ ထို အရှင်မြတ်သည် အသင်တို့ ပြုမူခဲ့သမျှတို့ကို အသင်တို့အား အသိပေးတော်မူအံ့။

يَاَيُّهَا الَّذِيْنَ اٰمَنُوْا شَهَادَةُ بَيْنِكُمْ اِذَا حَضَرَ اَحَدَكُمُ الْمَوْتُ حِيْنَ الْوَصِيَّةِ اثْنٰنِ ذَوَا عَدْلٍ مِّنْكُمْ اَوْ اٰخَرٰنِ مِنْ غَيْرِكُمْ اِنْ اَنْتُمْ ضَرَبْتُمْ فِى الْاَرْضِ فَاَصَابَتْكُمْ مُّصِيْبَةُ الْمَوْتِ تَحْبِسُوْنَهُمَا مِنْۢ بَعْدِ الصَّلٰوةِ

၁၀၆။ အို - သက်ဝင် ယုံကြည်သူအပေါင်းတို့၊ အသင်တို့အနက် တဦးတယောက်ထံသို့ 'မရဏ' သေခြင်းတရားသည် ဆိုက်ရောက်၍ (ထိုသူသည်) "ဝဆီယသ်" မှာတမ်းစကား ပြောကြားလေသောအခါ၊ အသင်တို့အနက်မှ တရားမျှတမှုရှိသောသူနှစ်ယောက် သက်သေအဖြစ် ရှိကြရပေမည်။ သို့တည်းမဟုတ် အသင်တို့သည် မြေပြင်ဝယ်ခရီးထွက်နေစဉ် အသင်တို့၌ သေဘေးဆိုက်ရောက်ခဲ့သည်ရှိသော် အကယ်၍ မွတ်စ်လင်မ် မရှိသော် အသင်တို့မှတပါး အခြား (သာသနာဝင်)တို့အနက်မှ သက်သေနှစ်ဦး ရှိကြရပေမည်။

အကယ်၍ အသင်တို့သည် မှာကြားခြင်းခံခဲ့ရသောသူတို့နှင့်ပတ်သက်၍ ဒွိဟသံသယမကင်း ဖြစ်ခဲ့ကြပါမူ၊ ထို(သက်သေ) နှစ်ယောက်ကို (ဗလီတွင်း "ဆွလာတ်" ဝတ်ပြုပြီးနောက် ဆိုင်းငံ့ထားကြလေကုန်။

فَيُقْسِمٰنِ بِاللّٰهِ اِنِ ارْتَبْتُمْ
لَا نَشْتَرِيْ بِهٖ ثَمَنًا وَّلَوْ كَانَ
ذَا قُرْبٰى وَلَا نَكْتُمُ شَهَادَةَ
اللّٰهِ اِنَّآ اِذًا لَّمِنَ الْاٰثِمِيْنَ ﴿١٠٦﴾

ထိုအခါ ထိုသူတို့ နှစ်ဦးစလုံးတို့သည် အလ္လာဟ် အရှင်မြတ်ကို တိုင်တည်၍ (ဤသို့) ကျိန်ဆိုကြရမည်။ "ကျွန်ုပ်တို့သည် (ဤကိစ္စ၌ မိမိတို့) ဆွေမျိုးနီးစပ် ပါဝင်နေသည့်တိုင်အောင် ဤသို့ ကျိန်ဆိုခြင်းအားဖြင့် မည်သည့် အကျိုးကျေးဇူးကိုမျှ ရလိုကြသည် မဟုတ်ပေ။

ၾငင်းပြင် ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ် အမိန့်တော်အတိုင်း တာဝန်ရှိသော သက်သေခံခြင်းကိုလည်း လျှို့ဝှက် ထိမ်ချန် ထားရှိကြသည် မဟုတ်ချေ။ (အကယ်၍ ထိမ်ချန်လျှို့ဝှက်ထားရှိခဲ့မူ) ကျွန်ုပ်တို့သည် ဧကန်စင်စစ် အပြစ်မကင်းသော သူတို့အနက်မှပင် ဖြစ်ကုန်အံ့သတည်း။"

فَاِنْ عُثِرَ عَلٰٓى اَنَّهُمَا اسْتَحَقَّآ
اِثْمًا فَاٰخَرٰنِ يَقُوْمٰنِ
مَقَامَهُمَا مِنَ الَّذِيْنَ
اسْتَحَقَّ عَلَيْهِمُ الْاَوْلَيٰنِ
فَيُقْسِمٰنِ بِاللّٰهِ لَشَهَادَتُنَآ
اَحَقُّ مِنْ شَهَادَتِهِمَا وَمَا
اعْتَدَيْنَآ ۖ اِنَّآ اِذًا لَّمِنَ
الظّٰلِمِيْنَ ﴿١٠٧﴾

**၁၀၇။** တဖန် အကယ်၍ ၎င်းတို့နှစ်ဦးသည် (တစုံတရာ အပြစ်) ကျူးလွန်ခဲ့ကြောင်း သိရှိရပါလျှင်၊ ထိုအပြစ်ရှိသူ နှစ်ဦး၏နေရာတွင် (ကွယ်လွန်သူ၏) ဆွေမျိုးအနီးစပ်ဆုံး အမွေစားတို့အနက် သက်သေနှစ်ယောက် ရပ်ပြီးလျှင်၊ "ကျွန်ုပ်တို့၏ သက်သေခံခြင်းမှာ ထိုသူတို့နှစ်ဦး သက်သေခံခြင်း ထက်ပိုမို၍ မှန်ကန်ပါသည်။ ၎င်းပြင် ကျွန်ုပ်တို့ သည်(ပစ္စည်းတောင်းဆိုရာတွင်၎င်း၊ ဝဆီမျှားအား စွပ်စွဲရာတွင်၎င်း၊) စည်းကမ်းကျူးလွန်ခြင်းလည်း မရှိကြပါ။

(အကယ်၍သာ ကျူးလွန်ခဲ့သည်ရှိသော်) ကျွန်ုပ်တို့သည် မလွဲဧကန် မတော်မတရား ကျူးလွန်သော သူတို့အနက် အပါအဝင် ဖြစ်ကြပါအံ့" ဟု အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ ကျိန်ဆို ကြရပေမည်။

ذَٰلِكَ أَدْنَىٰٓ أَن يَأْتُوا۟
بِٱلشَّهَٰدَةِ عَلَىٰ وَجْهِهَآ
أَوْ يَخَافُوٓا۟ أَن تُرَدَّ أَيْمَٰنٌۢ
بَعْدَ أَيْمَٰنِهِمْ ۗ وَٱتَّقُوا۟ ٱللَّهَ
وَٱسْمَعُوا۟ ۗ وَٱللَّهُ لَا يَهْدِى
ٱلْقَوْمَ ٱلْفَٰسِقِينَ ﴿١٠٨﴾

**၁၀၈။** ဤသည်ကား သက်သေများသည် သက်သေခံထိုက်သောနည်းမှန်တိုင်း သက်သေခံကြရန်၊ သို့တည်းမဟုတ် ၎င်းတို့သည် မိမိတို့၏ကျိန်ဆိုချက်များမှာ အခြားသူများ၏ ကျိန်ဆိုချက်များဖြင့် ကန့်ကွက်ပယ်ချခြင်းခံရမည်ကို စိုးရိမ်ကြရန် အနီးစပ်ဆုံး (အကောင်းဆုံး)သောနည်းပင် ဖြစ်ချေသည်။

(မည်သို့ပင်ဖြစ်စေ) အသင်တို့သည် အလ္လာဟ် အရှင်မြတ်ကို ကြောက်ရွံ့ကြလေကုန်၊ ၎င်းပြင် (ထိုအရှင်မြတ်၏ အမိန့်တော်များကို) နာယူကြလေကုန်။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အမိန့်တော်ကို ကျူးလွန်သောသူတို့အား တရားလမ်းမှန်ကို ညွှန်ကြားပြသတော်မူသည် မဟုတ်ပေ။

يَوْمَ يَجْمَعُ ٱللَّهُ ٱلرُّسُلَ
فَيَقُولُ مَاذَآ أُجِبْتُمْ ۖ قَالُوا۟
لَا عِلْمَ لَنَآ ۖ إِنَّكَ أَنتَ عَلَّٰمُ
ٱلْغُيُوبِ ﴿١٠٩﴾

**၁၀၉။** (အသင်တို့သည် အကြင်နေ့ကို သတိရကြလေကုန်၊ ကြောက်ရွံ့ ကြလေကုန်) ထိုနေ့တွင် အလ္လာဟ် အရှင်မြတ်သည် ရစူလ်တမန်တော်များအား စုရုံးစေတော်မူပြီး (ထို ရစူလ်တမန်တော် များကို) "အသင် တို့သည် (မိမိတို့၏ နောက်လိုက်များထံမှ) မည်သို့ သော ပြန်ကြားခြင်းကို ရရှိခဲ့ကြပါသနည်း" ဟု မေးမြန်းတော်မူအံ့။ (ထိုအခါ ထိုရစူလ်တမန်တော်များက) *ကျွန်တော်မျိုးတို့တွင်အလျင်းမသိကြပါ။* [၁] ဧကန်စင်စစ် အရှင်မြတ်သည်သာလျှင် အကွယ်၌ရှိသောအရာများကို အကြွင်းမဲ့ သိတော်မူသောအရှင်ဖြစ်တော်မူပါသည်ဟု လျှောက်ထားခဲ့ကြကုန်အံ့။

---

(၁) အလ္လာဟ်အရှင်မြတ်သည် ကိယာမတ်နေ့တွင် "မဟ်ရှရ်" ကွင်းပြင်၌ နဗီတမန်တော်များအား ၎င်းတို့၏ နောက်လိုက်များနှင့် မျက်နှာချင်းဆိုင်စေကာ အသင်တို့သည် ဤသူတို့ထံသို့ ငါ၏တရားဒေသနာတော်များကို ယူဆောင်သွားခဲ့ကြ၏။ ဤသူတို့က အသင်တို့အား အသို့အဖြေပေးသနည်း၊ ငါ၏ဒေသနာများကို အဘယ်မျှလိုက်နာ ကျင့်သုံးခဲ့ကြသနည်း၊ ဟု မေးမြန်းတော်မူလိမ့်မည်။ ➢➢

إِذْ قَالَ اللَّهُ يَٰعِيسَى ابْنَ مَرْيَمَ اذْكُرْ نِعْمَتِي عَلَيْكَ وَعَلَىٰ وَالِدَتِكَ إِذْ أَيَّدتُّكَ بِرُوحِ الْقُدُسِ تُكَلِّمُ النَّاسَ فِي الْمَهْدِ وَكَهْلًا وَإِذْ عَلَّمْتُكَ الْكِتَٰبَ وَالْحِكْمَةَ وَالتَّوْرَىٰةَ وَالْإِنجِيلَ وَإِذْ تَخْلُقُ مِنَ الطِّينِ كَهَيْـَٔةِ الطَّيْرِ بِإِذْنِي فَتَنفُخُ فِيهَا فَتَكُونُ طَيْرًا

၁၁၀။ (၎င်းနောက် ထိုနေ့မှာပင်) အကြင်အခါဝယ် အလ္လာဟ် အရှင်မြတ်သည် (တမန်တော်အီစာသခင်အား ဤသို့) မိန့်ကြားတော်မူအံ့၊ အို-မရ်ယမ်၏ သား အီစာ၊ အသင်သည် မိမိအပေါ်၌၎င်း၊ မိမိ၏ မိခင်အပေါ်၌၎င်း၊ ငါအရှင်မြတ်ပြုတော်မူခဲ့သော ကျေးဇူးတော်များကို ပြန်လည်အောက်မေ့ သတိရပါလေ။ အကြင် အခါဝယ် ငါ အရှင်မြတ်သည် အသင့်အား "ရူဟုလ်ကုဒ္ဒုတ်စ်" ဖြင့် ကူညီထောက်မတော်မူခဲ့၏။ (၎င်းပြင်) အသင်သည် ပုခက်တွင်း၌ (အမိရင်ခွင်၌)၎င်း၊ အသက်အရွယ်ကြီးပြင်းလာသည့်အခါ၌၎င်း၊ လူတို့နှင့် (တမျိုးတစားတည်း) စကားပြောဆိုခဲ့၏။

၎င်းပြင် အကြင်အခါဝယ် ငါအရှင်မြတ်သည် အသင့်အား ကောင်းကင်ကျ ကျမ်းဂန်များကို၎င်း၊ 'ဟာစ်က်မတ်' အသိဉာဏ် အထူးအမြင်ကို၎င်း၊ 'တောင်ရာတ်' နှင့် 'အင်န်ဂျီလ်' ကျမ်းဂန်များကို၎င်း၊ သင်ကြားပို့ချတော်မူခဲ့၏။

---

➤➤ ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ တန်ခိုးတေဇော်အာနုဘော်များကို ထင်ရှားပြတော်မူမည်ဖြစ်ရာ အလွန်တရာ ကြောက်မက်ဘွယ်ကောင်းလှ၏။ လူသာမန်များကို ထားဘိဦး အကြီးအကဲ အားလုံးတို့သည်ပင် သတိရှိကြမည် မဟုတ်ပေ။

နဗီတမန်တော်များသည်လည်း မိမိတို့အရေးနှင့် မိမိတို့အသီးသီး ပူပန်သောက ဖြစ်လျက်ရှိကြပေမည်။ ထိုအချိန်တွင် အလ္လာဟ်အရှင်မြတ်က နဗီတမန်တော်များအား ၎င်းတို့၏နောက်လိုက်တပည့်များနှင့် စပ်လျဉ်း၍ မေးမြန်းတော်မူမည်ဖြစ်၏။ နဗီတမန်တော်များသည် အလ္လာဟ်အရှင်မြတ်အား ရိုသေခန့်ညားစွာ "ကျွန်တော်မျိုးထံတွင် တစုံတရာ အသိမရှိပါ" ဟု လျှောက်ထားကြလိမ့်မည်။ ဟစန်၊ မုဂျာဟစ်ဒ် စသည့် ပညာရှင်ကြီးများထံမှလည်း ဤအတိုင်း ကြားသိရပေသည်။

ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် နဗီတမန်တော်များနှင့်တကွ သက်ဆိုင်ရာ အုပ်စု အသီးသီးတို့အား မေးမြန်းတော်မူမည့် အကြောင်း ကုရ်အာန်(၇း၆-၇)တွင်လည်း အတည့်အလင်း ပါရှိသည်။

بِإِذْنِي وَتُبْرِئُ الْأَكْمَهَ
وَالْأَبْرَصَ بِإِذْنِي ۖ وَإِذْ تُخْرِجُ
الْمَوْتَىٰ بِإِذْنِي ۖ وَإِذْ كَفَفْتُ
بَنِي إِسْرَائِيلَ عَنكَ إِذْ
جِئْتَهُم بِالْبَيِّنَاتِ فَقَالَ
الَّذِينَ كَفَرُوا مِنْهُمْ إِنْ
هَٰذَا إِلَّا سِحْرٌ مُّبِينٌ ﴿١١٠﴾

ငင်းပြင် အကြင်အခါဝယ် ငါအရှင်မြတ်၏ အမိန့်တော်ဖြင့် မြေဖြင့် အသင်သည် ငှက်၏သဏ္ဍာန်ကဲ့သို့ပြုလုပ်၍ ထိုအရာတွင် မှုတ်၏။ ထိုအခါ ထိုအရာသည် ငါအရှင်မြတ်၏ အမိန့်တော်ဖြင့် (အသက်ရှင်သော ပြကတေ့) ငှက်သတ္တဝါ ဖြစ်သွားလေ၏။ ငင်းပြင် အသင်သည် ငါအရှင်မြတ်၏ အမိန့်တော်ဖြင့် (အမိဝမ်းတွင်းမှ) မျက်စိအလင်းမရရှိသောသူတို့ကိုငင်း၊ ခရသင်းစသော ကုဋ္ဌနူနာစွဲကပ်လျက် ရှိသောသူတို့ကိုငင်း၊ ပျောက်ကင်းစေ၏။ ငင်းပြင် အကြင်အခါဝယ် အသင်သည် ငါအရှင်မြတ်၏အမိန့်တော်ဖြင့် သူသေများကို (ရှင်စေပြီး သင်းချိုင်းတွင်းမှ) ထွက်စေခဲ့၏။

ငင်းပြင် အကြင်အခါဝယ် ငါ အရှင်မြတ်သည် အစ္စရာအီလီ မျိုးနွယ်တို့ကို အသင့်(အားဖမ်းဆီး ကွပ်မျက်ခြင်း)မှ တားဆီးတော်မူခဲ့၏၊ အကြင် အခါဝယ် အသင်သည် ငင်းတို့ထံသို့ ထင်ရှား လှစွာသော သက်သေလက္ခဏာ (တန်ခိုးပြာဋိဟာ)များကို ယူဆောင်သွားခဲ့၏။ ပြီးနောက် ငင်းတို့အနက်မှ မယုံမကြည် သွေဖည်ငြင်းပယ်ခဲ့သူတို့က "ဤကား ထင်ရှားသော စုန်းပရောဂ အတတ်မျှဖြစ်သည်" ဟု ပြောဆိုခဲ့ကြ၏။

وَإِذْ أَوْحَيْتُ إِلَى الْحَوَارِيِّينَ
أَنْ آمِنُوا بِي وَبِرَسُولِي
قَالُوا آمَنَّا وَاشْهَدْ بِأَنَّنَا

**၁၁၁**။ ငင်းပြင် (အို-နဗီတမန်တော်အီစာ) အသင်သည် (ပြန်လည်အောက်မေ့ သတိရပါလေ) အကြင်အခါဝယ် ငါအရှင်မြတ်သည် 'ဟဝါရီ'တို့ထံ "အသင်တို့သည် ငါ အရှင်မြတ်ကိုငင်း၊ ငါ အရှင်မြတ်၏ တမန်တော် (အီစာ)အားငင်း၊ သက်ဝင် ယုံကြည်လေကုန်"ဟု အမိန့်တော်ထုတ်ပြန် ချမှတ်တော်မူခဲ့လေ

مُسۡلِمُونَ ﴿١١١﴾

ရာ ထို(ဟဝါရီ)တို့က၊ "ကျွန်တော်မျိုးတို့သည် ယုံကြည်ကြပါပြီ၊ ကျွန်တော်မျိုးတို့သည် အမိန့်ကို လိုက်နာကြသော 'မွတ်စလင်မ်' များဖြစ်ကြောင်း အရှင်မြတ်သည် သက်သေ ဖြစ်တော်မူပါ" ဟူ၍ လျှောက်ထား ပန်ကြားခဲ့ကြသည်။

إِذۡ قَالَ ٱلۡحَوَارِيُّونَ يَٰعِيسَى ٱبۡنَ مَرۡيَمَ هَلۡ يَسۡتَطِيعُ رَبُّكَ أَن يُنَزِّلَ عَلَيۡنَا مَآئِدَةً مِّنَ ٱلسَّمَآءِۖ قَالَ ٱتَّقُواْ ٱللَّهَ إِن كُنتُم مُّؤۡمِنِينَ ﴿١١٢﴾

**၁၁၂**။ (အို-နဗီတမန်တော် မုဟမ္မဒ်၊ အသင်သည် ပြန်လည်သတိရစေပါလေ၊) အခါတပါး၌ 'ဟဝါရီ' တို့က "အို-'မရ်ယမ်' (သခင်မ)၏သား (နဗီတမန်တော်)အီစာ (သခင်)၊ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ကျွန်တော်မျိုးတို့အပေါ်ဝယ် ကောင်းကင်မှ စားဖွယ်သောက်ဖွယ် (နှင့် ပြည့်စုံသောစားပွဲတစ်ခု)ကို ချပေးသနားတော်မူနိုင်စွမ်းပါသလော" ဟု ပြောဆိုကြလေသည်။

ထိုအခါ နဗီ တမန်တော် "အီစာ" က (ဟယ်- အချင်းတို့) အသင်တို့သည် အကယ်စင်စစ် "မုအ်မင်န်" သက်ဝင် ယုံကြည်သောသူများ ဖြစ်ကြပါလျှင် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်ဟု ပြောကြားတော်မူခဲ့ပေသည်။ ၁

(၁) ဤစားဖွယ်သောက်ဖွယ် ခဲဖွယ်ဘောဇဥ်ကိုအကြောင်းပြု၍ ဤကဏ္ဍကိုလည်း 'စူရတုလ်မာအေဒဟ်' ခဲဖွယ်ဘောဇဥ်ကဏ္ဍဟု မှည့်ခေါ်ထားခြင်းဖြစ်သည်။ ကြည့်-အီဗ်နုကသီရ်၊ ဒုတိယတွဲ၊ စာမျက်နှာ-(၁၁၈)။

အကြောင်းမဲ့ တန်ခိုးပြာဋိဟာများကို တောင်းဆိုခြင်းသည် မုအ်မင်န်တို့၌ရှိအပ်သော ရိုသေကိုင်းရှိုင်းမှုများနှင့် လုံးဝဆန့်ကျင်ပေသည်။ ထို့အတွက်ကြောင့်ပင် တမန်တော်အီစာ(အလိုင်ဟစ္စလာမ်)က မိမိ၏နောက်လိုက်တပည့်သား ဟဝါရီတို့အား "အသင်တို့သည် မုအ်မင်န်များဖြစ်ကြပါလျှင် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်" ဟု ဆုံးမ မိန့်ကြားတော်မူခြင်းဖြစ်လေသည်။ ကြည့်-ကဗီရ်၊ ရုဟ်၊ မာဂျိဒီ။

မုအ်မင်န်တဦးသည် မဖွယ်မရာသော ကိစ္စများကို တောင်းဆို၍ အလ္လာဟ်အရှင်မြတ်အား စမ်းသပ်ရန်အလျင်း မသင့်ပေ။ စားနပ်ရိက္ခာများကို ထိုအရှင်မြတ် သတ်မှတ်ပြဋ္ဌာန်းထားတော်မူသော နည်းနိသျှည်းများနှင့်အညီ ရှာဖွေဆည်းပူးရပေမည်။

လူတယောက်သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေမြတ်နိုးပြီး ထိုအရှင်မြတ်အားကိုးစားအားထားပါလျှင် အလ္လာဟ်အရှင်မြတ်သည် ထိုသူအား ထိုသူ မတွေးမဆင်ခြင်မိသောနေရာမှပင် ➤➤

قَالُوْا نُرِيْدُ اَنْ نَّاْكُلَ مِنْهَا وَتَطْمَىِٕنَّ قُلُوْبُنَا وَنَعْلَمَ اَنْ قَدْ صَدَقْتَنَا وَنَكُوْنَ عَلَيْهَا مِنَ الشّٰهِدِيْنَ ﴿١١٣﴾

၁၁၃။ ထို(ဟဝါရီ)များက ကျွန်တော်မျိုးတို့သည် ထို(စားပွဲတွင် ပါရှိလေသော) စားဖွယ်ကို (ဗရ်ကတ် မင်္ဂလာ ရှိစေခြင်းအားဖြင့်) စားသုံးခြင်းငှာရင်း၊ ကျွန်တော်မျိုးတို့၏ စိတ်နှလုံးများ နှစ်သိမ့်ကျေနပ်ခြင်းငှာရင်း၊ အသင် (တမန်တော် အီစာ)သည် ကျွန်တော်မျိုးတို့အား (မိမိ နဗီတမန်တော်ဖြစ်ကြောင်း) မှန်ကန်စွာ ပြောဆိုခဲ့သည်ကို (ကိုယ်တွေ့မျက်မြင်) ကောင်းမွန်စွာ ယုံကြည်ခြင်းငှာရင်း၊ ထို (တန်ခိုးပြာဋိဟာ)နှင့် စပ်လျဉ်း၍ ကျွန်တော်မျိုးတို့သည် အသိသက်သေ ဖြစ်ခြင်းငှာရင်း၊ ရည်စူးကြပါသည်ဟု ပြန်ကြားကြကုန်၏။ ၁

قَالَ عِيْسَى ابْنُ مَرْيَمَ اللّٰهُمَّ رَبَّنَآ اَنْزِلْ عَلَيْنَا مَاىِٕدَةً مِّنَ السَّمَآءِ تَكُوْنُ لَنَا عِيْدًا لِّاَوَّلِنَا

၁၁၄။ မရ်ယမ်(သခင်မ)၏သား(တော် တမန်တော်) အီစာ(အလိုင်ဟစ္စလာမ်)က "အို-အလ္လာဟ်အရှင်မြတ်၊ အို-ကျွန်တော်မျိုးတို့အား မွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့ အပေါ်သို့ မိုးကောင်းကင်မှ စားဖွယ်သောက်ဖွယ်ကို ချပေးသနားတော်မူပါ၊

➤➤ ရိက္ခာများကို ပေးသနားတော်မူသည့်အကြောင်း ကုရ်အာန်ကျမ်းမြတ်၌လာရှိ၏။

ကြည့်-ကုရ်အာန်(၆၅း၂-၃)။အလ်မနာရ်

(၁) အထက်ပါမုက္ခပါဌ်တော်တွင် ပါရှိသည့်အတိုင်း တမန်တော်အီစာ(အလိုင်ဟစ္စလမ်)က မိန့်ကြားတော်မူသည့်အခါ ဟဝါရီများကတဖန် ပြန်လည်လျှောက်ထားကြလေသည်။ ၎င်းတို့၏လျှောက်ထားချက် အကျဉ်းသဘောမှာ ကျွန်တော်မျိုးတို့ ယင်းကဲ့သို့ တန်ခိုးပြာဋိဟာ တောင်းဆိုခြင်းမှာ မရိုမသေမခန့်မညား ပြုလိုသောသဘော မဟုတ်ပါ၊ ကျွန်တော်မျိုးတို့၏စေတနာမှာ (က)ကျွန်တော်မျိုးတို့သည် ကောင်းကင်ကျ ထိုအဟာရကို 'တဗရ်ရုက်' မင်္ဂလာရှိသော အဟာရအဖြစ် အမြတ်တနိုးစားသုံးလိုခြင်း။ (ခ)ထိုတန်ခိုးပြာဋိဟာကို ဖူးတွေ့ရခြင်းအားဖြင့် ကျွန်တော်မျိုးတို့၏ "အီမာန်" ယုံကြည်ခြင်းသဒ္ဓါတရားသည် ပိုမိုထက်သန် ရင့်ကျက်လာစေလိုခြင်း၊ (ဂ)ထိုတန်ခိုးပြာဋိဟာကို ဖူးတွေ့ရခြင်းအားဖြင့် တမန်တော်မြတ်၏တရားဓမ္မ အဆုံးအမ ဩဝါဒတော်များ မှန်ကန်ကြောင်းကို ကိုယ်တွေ့မျက်မြင် ယုံကြည်လို၍ဖြစ်ခြင်း၊ (ဃ)၎င်းပြင် ကျွန်တော်မျိုးတို့သည် တန်ခိုးပြာဋိဟာနှင့်စပ်လျဉ်း၍ (ထိုတန်ခိုးပြာဋိဟာကို မဖူးတွေ့ရသော) သူတပါးတို့အတွက် အသိသက်သေ ဖြစ်လိုခြင်းများသာ ဖြစ်သည်ဟု ရှင်းလင်းဖော်ပြ လျှောက်ထားကြလေသည်။ မာဂျိဒီ၊အစောင်-၂၊စာမျက်နှာ-၂၇၆၊အောက်ခြေအမှတ်-၃၄၇။

وَءَاخِرِنَا وَءَايَةً مِّنكَ ۖ وَٱرْزُقْنَا وَأَنتَ خَيْرُ ٱلرَّٰزِقِينَ ١١٤

ထိုစားဖွယ် သောက်ဖွယ်သည် ကျွန်တော်မျိုးတို့အဘို့ (ဝါ) ကျွန်တော်မျိုးတို့တွင် ရှေးကျသူများအဘို့၎င်း၊ ကျွန်တော်မျိုးတို့နောက် လာလတ္တံ့သောသူများအဘို့၎င်း၊ ပျော်ရွှင်ဖွယ်ရာ ဖြစ်ပါစေ၊ ၎င်းပြင် အရှင်မြတ် ထံတော်မှ သက်သေ လက္ခဏာတော် တပါးလည်း ဖြစ်ပါစေ။ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ပေးသနားတော်မူပါ။ အမှန်စင်စစ် အရှင်မြတ်သည်သာလျှင် အကောင်းဆုံးသော ပေးသနားတော်မူသော အရှင် ဖြစ်တော်မူပါသည်" ဟု လျှောက်ထားပန်ကြားလေသည်။

قَالَ ٱللَّهُ إِنِّى مُنَزِّلُهَا عَلَيْكُمْ ۖ فَمَن يَكْفُرْ بَعْدُ مِنكُمْ فَإِنِّىٓ أُعَذِّبُهُۥ عَذَابًا لَّآ أُعَذِّبُهُۥٓ أَحَدًا مِّنَ ٱلْعَٰلَمِينَ ١١٥

**၁၁၅။** အလ္လာဟ်အရှင်မြတ်က "ငါအရှင်မြတ်သည် ထိုစားဖွယ်သောက်ဖွယ်ကို အသင်တို့အပေါ်၌ မုချဧကန် ချပေးသနားတော်မူအံ့၊ သို့ရာတွင် ထို(သို့ချပေးသနားတော်မူပြီး)နောက် အသင်တို့အနက် မည်သူမဆို ငြင်းပယ်ပါမူ၊ ငါအရှင်မြတ်သည် စကြာဝဠာ ခပ်သိမ်းတို့အနက် မည်သူတဦးတယောက်ကိုမျှပေးတော်မမူမည့် အပြစ်ဒဏ်ကို ထိုသူအား ဧကန်မလွဲ ပေးတော်မူအံ့" ဟု ပြန်ကြားတော်မူခဲ့လေသတည်း။ [၁]

---

(၁) အထက်တွင်ပါရှိသည့်အတိုင်း တမန်တော်အီစာ(အလိုင်ဟစ္စလာမ်)က မိုးကောင်းကင်မှ စားဘွယ်သောက်ဘွယ်ကို ပို့ချပေးသနားတော်မူပါရန် အလ္လာဟ်အရှင်မြတ် အထံတော်တွင် လျှောက်ထားပန်ကြားသည့်အခါ ထိုအရှင်မြတ်က ဤမုက္ခပါဌ်တော်တွင် ပါရှိသည့်အတိုင်း မိန့်ကြားတော်မူလေသည်။

'အီမာန်' ယုံကြည်မှု၏ကုသိုလ်အကျိုးသည် 'ဃိုဗ်' မျက်ကွယ်ရှိအရာများကို ယုံကြည်ခြင်းအပေါ်၌ တည်ရှိ၏။ ယခုမူကား ဤသို့မဟုတ်ချေ။ ကောင်းကင်မှ ချက်ပြုတ်ပြီးစားဘွယ်သောက်ဘွယ် ကျရောက်လာခြင်းသည် ဖြစ်လေ့ဖြစ်ထမရှိသော အံ့ဘွယ်ရာဖြစ်၏၊ ထင်ရှားလှသော သက်သေလက္ခဏာဖြစ်၏။ ကြီးမားလှသော တန်ခိုးပြာဋိဟာလည်းဖြစ်၏။ ယင်းကဲ့သို့ ထင်ရှားကြီးမားလှသော တန်ခိုးပြာဋိဟာကို မိမိတို့ကိုယ်တိုင် တောင်းဆို၍ တောင်းဆိုသည့်အတိုင်း ထိုတန်ခိုးပြာဋိဟာကို မိမိတို့ကိုယ်တိုင် မျက်ဝါးထင်ထင် တွေ့မြင်ရပြီးနောက် သွေဖည်ငြင်းပယ်ပါမူ ဤငြင်းပယ်မှုသည် အကွယ်ရှိအရာကို ငြင်းပယ်သည်မဟုတ်။ ကိုယ်တွေ့မျက်မြင် ကိစ္စကို ငြင်းပယ်ခြင်းသာ ဖြစ်ချေသည်။ ကိုယ်တွေ့မျက်မြင်ကိစ္စကို ငြင်းပယ်ခြင်းကား အဆိုးဝါးဆုံး ➤➤

وَإِذْ قَالَ ٱللَّهُ يَٰعِيسَى ٱبْنَ
مَرْيَمَ ءَأَنتَ قُلْتَ لِلنَّاسِ
ٱتَّخِذُونِى وَأُمِّىَ إِلَٰهَيْنِ مِن
دُونِ ٱللَّهِ ۖ قَالَ سُبْحَٰنَكَ مَا يَكُونُ
لِىٓ أَنْ أَقُولَ مَا لَيْسَ لِى
بِحَقٍّ ۚ إِن كُنتُ قُلْتُهُۥ فَقَدْ
عَلِمْتَهُۥ ۚ تَعْلَمُ مَا فِى نَفْسِى
وَلَآ أَعْلَمُ مَا فِى نَفْسِكَ ۚ
إِنَّكَ أَنتَ عَلَّٰمُ ٱلْغُيُوبِ ﴿١١٦﴾

**၁၁၆**။ (ပြန်လည်အောက်မေ့သတိရပါလေ၊) အကြင် အခါဝယ် အလ္လာဟ် အရှင်မြတ်သည် (ဤသို့) မိန့်ကြားတော်မူအံ့၊ "အို-'မရ်ယမ်' ၏သား 'အီစာ'၊ အသင်က လူတို့အား အသင်တို့သည် အလ္လာဟ်အရှင် မြတ်အပြင် ကျွန်ုပ်(အီစာ)ကိုငင်း၊ ကျွန်ုပ်၏မယ်တော် (မရ်ယမ်)ကိုငင်း၊ ကိုးကွယ်ရာ(ဘုရား)နှစ်ပါး မှတ်ယူ ကြလေကုန် ဟု ပြောကြားခဲ့ပါသလော"။

ထိုအခါ (အီစာ)(အလိုင်ဟစ္စလာမ်)သည် (ဤသို့) လျှောက်ထား ပြန်ကြားပေအံ့။ ("အို - အရှင်) အရှင်မြတ်သည် သန့်ရှင်းစင်ကြယ်တော် မူပါ၏။ ကျွန်တော်မျိုးမှာ မိမိ မပြောထိုက်သော စကားကို ပြောဆိုခွင့် အလျင်း မရှိပါ။ အကယ်၍ သာ ကျွန်တော်မျိုးသည် ထိုစကားကို ပြောဆိုမိခဲ့ ပါမူ၊ အရှင်မြတ်သည် ထိုပြောဆိုသည်ကို မုချ သိရှိ တော်မူပြီးပင် ဖြစ်ပါသည်။

---

➤➤ အကြီးမားဆုံး အပြစ်ပင် ဖြစ်ပေသည်။ အဆိုးဝါးဆုံးသော ပြစ်မှုကို ကျူးလွန်သူတဦးသည် အဆိုးဝါးဆုံးသော အပြစ်ဒဏ်ကို ခံရမည်မှာ အထင်အရှားပင် ဖြစ်ပေသည်။ ထို့အတွက်ကြောင့်ပင် ဤမုက္ခပါဌ်တော်တွင် အလ္လာဟ်အရှင်မြတ်က "သို့ချပေးတော်မူပြီးသည့်နောက် အသင်တို့အနက် မည်သူမဆို သွေဖည်ငြင်းပယ်ပါမူ ငါအရှင်မြတ်သည် ထိုသူအား စကြာဝဠာခပ်သိမ်းတွင် မည်သူတဦးတယောက်ကိုမျှ ပေးတော်မမူသော ပြစ်ဒဏ်ကို မုချပေးတော်မူအံ့" ဟု မိန့်ကြားထားတော်မူခြင်းဖြစ်ပေသည်။

တမန်တော်အီစာ(အလိုင်ဟစ္စလာမ်)၏ လျှောက်ထားပန်ကြားချက်အရ အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်မှ စားဘွယ်သောက်ဘွယ်ကိုချပေးတော်မူခဲ့ပါသလော၊ ဤတွင် အဆိုပြားလျက်ရှိပေသည်။
(က) များစွာသော မုဖတ်စိရီန် သုခမိန်တို့၏ ယူဆချက်အရ ထိုစားဘွယ်သောက်ဘွယ်သည် မိုးကောင်းကင်မှ အမှန်တကယ်ပင် ကျရောက်ခဲ့ပေသည်။

သာဝကကြီး အမ္မာရ် အီဗ်နုယာစစ်ရ်ထံမှတဆင့် ကြားသိရ၏၊ တမန်တော်မြတ်မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က မိန့်ကြားတော်မူသည်မှာ ထိုစားဘွယ်သည် မုံ့၊ အသားနှင့်တကွ ကျရောက်လာခဲ့၏။ ထိုသူတို့အား သစ္စာမဲ့ကြရန်၊ သိုလှောင်၍မထားကြရန်နှင့် နက်ဖြန်အတွက် ချန်မထားကြရန် အမိန့်ထားတော်မူ၏။ ထိုသူများသည် သစ္စာမဲ့ခဲ့ကြ၏၊ သိုလှောင်ခဲ့ကြ၏။ နောက်နေ့အတွက် ချန်ထားခဲ့ကြ၏၊ ထို့အတွက်ကြောင့် ၎င်းတို့သည် မျောက်၊ ဝက်တိရစ္ဆာန်များဖြစ်သွားခဲ့ကြရလေသည်။ (အီဗ်နုဂျရီရ်)

အရှင်မြတ်သည် ကျွန်တော်မျိုး၏ စိတ်တွင်း၌ရှိသမျှတို့ကို (အကြွင်းမဲ့)သိရှိတော်မူပါ၏။ သို့ရာတွင် ကျွန်တော်မျိုးမှာမူကား အရှင်မြတ်၏စိတ်တွင်း၌ ရှိသည်တို့ကို မသိပါ။ ဧကန်စင်စစ် အရှင်မြတ်သည်သာလျှင် အကွယ်၌ရှိသမျှတို့ကို အကြွင်းမဲ့ သိရှိတော်မူသော အရှင် ဖြစ်တော်မူပါသတည်း။

مَا قُلْتُ لَهُمْ إِلَّا مَا أَمَرْتَنِي بِهِ أَنِ اعْبُدُوا اللَّهَ رَبِّي وَرَبَّكُمْ ۚ وَكُنْتُ عَلَيْهِمْ شَهِيدًا مَا دُمْتُ فِيهِمْ ۖ فَلَمَّا تَوَفَّيْتَنِي كُنْتَ أَنْتَ الرَّقِيبَ عَلَيْهِمْ ۚ وَأَنْتَ عَلَىٰ كُلِّ شَيْءٍ شَهِيدٌ ﴿١١٧﴾

၁၁၇။ ကျွန်တော်မျိုးသည် ၎င်းတို့ကို အရှင်မြတ်က ကျွန်တော်မျိုးအား မိန့်တော်မူသည့် (အတိုင်း) 'အို-အချင်းတို့၊ အသင်တို့သည် ကျွန်ုပ်၏အရှင်လည်း ဖြစ်တော်မူသော၊ အသင်တို့၏အရှင်လည်းဖြစ်တော်မူသော (တဆူတည်းသော) အလ္လာဟ် အရှင်မြတ်အားသာ ကိုးကွယ်ကြလေကုန်' ဟူသော စကားမှအပ အခြားမည်သည့်စကားကိုမျှ ပြောဆိုခဲ့သည် မရှိပါ။ ထို့ပြင်တ၀ ကျွန်တော်မျိုးသည် ၎င်းတို့အထဲတွင် ရှိနေသမျှ ကာလပတ်လုံး ၎င်းတို့(၏အကြောင်း)ကို သိရှိသူ ဖြစ်ပါသည်။

တဖန် အရှင်သည် *ကျွန်တော်မျိုးအား ပင့်မယူဆောင်သောအခါ* [၁] အရှင်သည်ပင်လျှင် ၎င်းတို့(၏ အကြောင်း)ကို သိရှိတော်မူသောအရှင် ဖြစ်တော် မူခဲ့ပါသည်။ အမှန် စင်စစ်သော်ကား အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို သိမြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပါသည်။

---

(၁) "အရှင်မြတ်သည် ကျွန်တော်မျိုးအား ပင့်မယူဆောင်လိုက်သည့်အခါ"၊ ဆိုသည်ကား အလ္လာဟ်အရှင်မြတ်သည် တမန်တော်အီစာ(အလိုင်ဟစ္စလာမ်)အား ပဌမအကြိမ်တွင် မိုးကောင်းကင်သို့ အသက်နှင့်တကွ ပင့်မယူတော်မူခဲ့၍ ဒုတိယအကြိမ်တွင် အသက်သေစေတော်မူခဲ့၏။ (ဤစကားနှစ်ရပ်လုံးသည် ဤမုကဍပါဠ်တော်တွင် အကျုံးဝင်လျက်ရှိ၏) ကြည့်-ထာနဝီ၊အတွဲ-၃၊ စာမျက်နှာ-(၇၇)။

တမန်တော်အီစာ(အလိုင်ဟစ္စလာမ်)အား မိုးကောင်းကင်သို့ ပင့်မ ယူဆောင်ထားတော်မူသည့် အကြောင်းကို ကုရ်အာန်ကျမ်းမြတ်(၃း၅၄)၏အဖွင့်တွင် အကျယ်တဝင့် ရေးသားခဲ့ပါပြီ၊ ပြန်လည်ရှုပါကုန်။

إِنْ تُعَذِّبْهُمْ فَإِنَّهُمْ عِبَادُكَ وَإِنْ تَغْفِرْ لَهُمْ فَإِنَّكَ أَنْتَ الْعَزِيزُ الْحَكِيمُ ﴿١١٨﴾

၁၁၈။ "အရှင်မြတ်သည် အကယ်၍ ထိုသူတို့အား အပြစ်ဒဏ် ပေးတော်မူခဲ့ပါလျှင်၊ ၎င်းတို့သည် ဧကန်မလွဲ အရှင်မြတ်၏ ကျွန်များပင် ဖြစ်ကြပါ၏။ ၎င်းပြင် အကယ်၍ အရှင်မြတ်သည် ထိုသူတို့အား (အပြစ်မှ)လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူပါလျှင်လည်း (ပြုစွမ်းတော်မူနိုင်ပါသည်။) အဘယ်ကြောင့်ဆိုသော် ဧကန် စင်စစ် အရှင်မြတ်သည် တန်ခိုးအာနုဘော်နှင့် ပြည့်စုံတော်မူသော အရှင်၊ ကျိုးကြောင်းဆင်ခြင်တုံဉာဏ်နှင့် ပြည့်စုံတော်မူသော အရှင် ဖြစ်တော်မူပါသည်။" [၁]

قَالَ اللَّهُ هَٰذَا يَوْمُ يَنْفَعُ الصَّادِقِينَ صِدْقُهُمْ لَهُمْ

၁၁၉။ *အလ္လာဟ်အရှင်မြတ်သည် (ဤသို့) မိန့်ကြားတော်မူလတ္တံ့။* [၂] ယနေ့မူကား မှန်ကန်သူများအဘို့၊ *၎င်းတို့၏မှန်ကန်မှုသည်* [၃] အကျိုးပေးသည့်နေ့ပင် ဖြစ်ချေသည်။

---

① ဤမုကဒ္ဒပါဌ်တော်၏ ဆိုလိုရင်းသဘောကား အို-အလ္လာဟ်အရှင်မြတ်၊ အရှင်မြတ်သည် ၎င်းတို့အား ပြစ်ဒဏ် တပ်ရိုက် စီရင်တော်မူပါလျှင် ၎င်းတို့သည် အရှင်မြတ်၏ကျွန်များပင် ဖြစ်ကြပါသည်။ အရှင်မြတ်သည် ၎င်းတို့၏ အရှင်သခင် ဖြစ်တော်မူပါသည်။ အရှင်သခင်သည် မိမိ၏ကျွန်များကို ၎င်းတို့၏အပြစ်များအလျောက် ပြစ်ဒဏ်တပ်ရိုက် စီရင်ပိုင်ခွင့်ရှိပါသည်။ အကယ်၍ အရှင်မြတ်သည် ၎င်းတို့ကို လွတ်ငြိမ်းခွင့် ပေးသနားတော်မူပါလျှင်လည်း ပေးစွမ်းတော်မူနိုင်ပါသည်။ အဘယ်ကြောင့်ဆိုသော် အရှင်မြတ်သည် တန်ခိုးအာနုဘော်နှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပါသည်။ ချမ်းသာခွင့် ပေးသနားတော်မူနိုင်ပါသည်။ အရှင်မြတ်သည် ကျိုးကြောင်းဆင်ခြင်တုံဉာဏ်နှင့် ပြည့်စုံတော်မူသောအရှင်လည်း ဖြစ်တော်မူပါသည်။ သို့ဖြစ်ပေရာ အရှင်မြတ်၏ ချမ်းသာခွင့် ပေးသနားတော်မူခြင်းသည် "ဟစ်က်မတ်" ဉာဏ်တော် အတိုင်းသာ ဖြစ်ပေသည်။ တရားသဖြင့်သာလျှင် ဖြစ်ပေမည်။ ချို့တဲ့မှုတစုံတရာ အလျင်း ရှိမည်မဟုတ်ပါ။ ဆိုလိုသည်ကား အရှင်မြတ်သည် အပြစ် ပေးတော်မူလိုပါကလည်း အပြစ်ပေးတော်မူနိုင်ပါသည်။ ချမ်းသာခွင့် ပေးတော်မူလိုပါကလည်း ချမ်းသာခွင့်ပေးတော်မူနိုင်ပါသည်။ ကျွန်တော်မျိုးသည် တစုံတရာ ဝင်ရောက် စွက်ဖက်သည် မဟုတ်ပါဟူလို။

② အထက်တွင်ပါရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ်သည် ကိယာမတ်နေ့တွင် နဗီတမန်တော်ပေါင်းတို့အား (သက်ဆိုင်ရာကိစ္စရပ်များကို) မေးမြန်းတော်မူပြီးသည့်နောက်တွင် ဤမုကဒ္ဒပါဌ်တော်တွင် ပါရှိသည့်အတိုင်း မိန့်ကြားတော်မူမည်ဖြစ်သည်။ ကြည့်-မာဂျိဒီ-ထာနဝီ။

③ (ဆွာဒိကီန်)ဟူသည် ဤပစ္စုပ္ပန်လောကတွင် မှန်ကန်သော ယုံကြည် ယူဆချက်များနှင့် ကောင်းမွန်မြင့်မြတ်သော အကျင့်သီလများအပေါ်တွင် တည်ရှိခဲ့သော သူမွန်သူမြတ်တို့ကို ဆိုလိုသည်။

جَنّٰتٌ تَجۡرِيۡ مِنۡ تَحۡتِهَا الۡاَنۡهٰرُ خٰلِدِيۡنَ فِيۡهَاۤ اَبَدًا ‌ؕ رَضِيَ اللّٰهُ عَنۡهُمۡ وَرَضُوۡا عَنۡهُ‌ ؕ ذٰ لِكَ الۡفَوۡزُ الۡعَظِيۡمُ ﴿۱۱۹﴾

ထို (မှန်ကန်သူများ)အတို့ အကြင်ဥယျာဉ်များသည် (အဆင်သင့်)ရှိကြပေအံ့။ ထိုဥယျာဉ်များ၏အောက်မှစမ်းရေချောင်းများသည် စီးထွေလျက်ရှိကြလတ္တံ့။ ၎င်းတို့သည် ထိုဥယျာဉ်များတွင် အမြဲထာဝစဉ် နေထိုင် (စံမြန်း)ကြကုန်အံ့။

အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့အပေါ်၌ ကျေနပ်တော်မူပြီးဖြစ်တော်မူ၏။ ၎င်းတို့သည်လည်း ထိုအရှင်မြတ်အပေါ်၌ ကျေနပ်ပြီး ဖြစ်ကြကုန်၏။ ဤသည်ကား ထူးကဲမြင့်မြတ်လှစွာသော (ဓေယျတုမင်္ဂလာ) အောင်မြင်မှုကြီးပင်တည်း။

لِلّٰهِ مُلۡكُ السَّمٰوٰتِ وَالۡاَرۡضِ وَمَا فِيۡهِنَّ‌ ؕ وَهُوَ عَلٰى كُلِّ شَىۡءٍ قَدِيۡرٌ ﴿۱۲۰﴾

၁၂၀။ မိုးကောင်းကင်များကိုင်း၊ ပထဝီမြေပြင်ကိုင်း၊ ထိုမိုးကောင်းကင်များနှင့် ပထဝီမြေကြီး၌ ရှိသမျှတို့ကိုင်း၊ စိုးမိုးအုပ်ချုပ်ခြင်း(အာဏာ)သည် *အလ္လာဟ်အရှင်မြတ်၌သာ ရှိချေသည်။* [၁]

စင်စစ်မူကား ထိုအရှင်မြတ်သည် အရာရာကို ပြုစွမ်းနိုင်တော်မူသောအရှင်ပင် ဖြစ်တော်မူချေသတည်း။

---

(၁) အလ္လာဟ်အရှင်မြတ်သည် မိုးမြေစကြာဝဠာ အစရှိသည့် ကမ္ဘာတဝှန်းကို စိုးမိုးတော်မူသော တပါးတည်းသော အရှင်ဖြစ်တော်မူ၏။ သို့စိုးမိုးတော်မူသော အရှင်ဖြစ်တော်မူသည့်အလျှောက် အမိန့်ပညတ် အရပ်ရပ်ကိုလည်း သတ်မှတ်ပြဋ္ဌာန်းထားတော်မူ၏။ အလ္လာဟ်အရှင်မြတ်သည် အရာရာကို ပြုစွမ်းတော်မူနိုင်သော အရှင်လည်းဖြစ်တော်မူပေရာ ဒေသနာတော်များကို လိုက်နာကျင့်သုံးသူတို့အား ကုသိုလ်အကျိုးပေးသနားတော်မူ၍ ဒေသနာတော်များကို မလိုက်နာသူတို့အား ပြစ်ဒါဏ်တပ်ရိုက်စီရင်တော်မူမည်ဖြစ်၏။ သို့ဖြစ်ပေရာ ကျွန်ုပ်တို့သည် ကြီးကဲမြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို ဦးလည်မသုံလိုက်နာကျင့်သုံး၍ ထိုအရှင်မြတ်၏ နှစ်မြို့တော်မူခြင်းကို ရယူရန် ကြိုးပမ်းအားထုတ်ကြမည်သာ ဖြစ်ပေသတည်း။

## သားကောင်များကဏ္ဍ



بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အစဉ်မပြတ် သနားကြင်နာတော်မူသော
အနန္တကရုဏာတော်ရှင်ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမတော်ဖြင့်
(အစပြုပါ၏)။

اَلْحَمْدُ لِلّٰهِ الَّذِيْ خَلَقَ السَّمٰوٰتِ وَالْاَرْضَ وَجَعَلَ الظُّلُمٰتِ وَالنُّوْرَ ۬ ثُمَّ الَّذِيْنَ كَفَرُوْا بِرَبِّهِمْ يَعْدِلُوْنَ ①

၁။ အလုံးစုံသော ချီးမွမ်း ထောမနာပြုခြင်းတို့သည် အလ္လာဟ်အရှင်မြတ် အဘို့သာတည်း။ ထိုအရှင်မြတ်သည် မိုးများနှင့် ပထဝီမြေကို ဖန်ဆင်းတော် မူခဲ့လေသည်။ ၎င်းပြင် ထို အရှင်မြတ်သည် *အမှောင်များနှင့် အလင်းရောင်ကို ပြုလုပ်တော် မူခဲ့လေသည်။* [၁]

သို့ပါလျက်နှင့်ပင် "ကာဖိရ်" မယုံမကြည် သွေဖည်ငြင်းပယ်သောသူတို့ကား (အခြားသူတို့ကို) မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် *နှင့်တန်းတူ မှတ်ယူထားရှိကြကုန်သတည်း။* [၂]

---

(၁) လမ်းမှန်မှုသည် အလင်းရောင်နှင့်တူ၏။ လမ်းမှားမှုတည်းဟူသောအမှောင်များသည် အများအပြား အမြောက်အမြားရှိ၏။ လမ်းမှန်မှုတည်းဟူသောအလင်းရောင်သည် တခုတည်းပင်ရှိ၏။ ဥပမာ-ဂျီဩမေတြီတွင် "အမှတ်နှစ်ခုတို့၏စပ်ကြား၌ မျဉ်းကောက်များစွာ ဆွဲထားနိုင်သော်လည်း၊ မျဉ်းဖြောင့်ကိုမူ တကြောင်းတည်းသာ ဆွဲသားနိုင်သည် ဖြစ်ကဲ့သို့ပင်။ ဤသည့်သဘောကို သိရှိစေရန်အလို့ငှာ၊ အမှောင်ကို ဗဟုဝုစ်ကိန်းဖြင့်၎င်း၊ အလင်းရောင်ကို ဧကဝုစ်ကိန်းဖြင့်၎င်း၊ သုံးနှုန်းထားတော်မူခြင်းပင် ဖြစ်ပေသည်။ ကြည့်-မာဂျိဒီ၊ အ-၂၊ စ-၂၇၉၊ အအ-၁။
(၂) အရဗ်နိုင်ငံရှိ မွတ်ရှ်ရစ်ကျ်များသည် အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကိုခွဲဝေရာ၌ အားလုံးထက်ပင် ရက်ရောလျက်ရှိကြ၏။ ၎င်းတို့သည် တောင်များ၌ရှိသမျှသော ကျောက်တုံး၊ ကျောက်ခဲများကို ကိုးကွယ်ကြ၏။ မီး၊ နေ၊ လ၊ ကြယ်တာရာ၊ သစ်ပင်၊ တိရစ္ဆာန်စသည်ဖြင့် အရာအားလုံးကိုလည်း ဆည်းကပ်ကိုးကွယ်ကြ၏။ ကိုးကွယ်ရာ၌ ထိုသို့သောအရာများကို အလ္လာဟ်အရှင်မြတ်နှင့် တန်းတူထား၍ ကိုးကွယ်ကြ၏။

အမှန်မှာ မိုး၊ မြေ၊ နေ၊ လ၊ နေ့၊ ညဉ့်၊ အလင်း၊ အမှောင်၊ အသိရှိမှု၊ အသိမဲ့မှု၊ တရားရမှု၊ တရားမဲ့မှု၊ သေခြင်း၊ ရှင်ခြင်း၊ စသည်ဖြင့် ဖြစ်ပျက်လျက်ရှိသော ဖြစ်စဉ်ဖြစ်ရပ် အရပ်ရပ်တို့ကို ပြုစုစီရင်တော်မူသောအရှင်မှာ တဆူတည်းဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်သာလျှင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် မည်သူတဦး တယောက်ကိုမျှ မှီခို အားထားတော်မူရသည်မရှိ။ ထိုအရှင်မြတ်နှင့် ➤➤

هُوَ الَّذِي خَلَقَكُم مِّن طِينٍ ثُمَّ قَضَىٰ أَجَلًا ۖ وَأَجَلٌ مُّسَمًّى عِندَهُ ۖ ثُمَّ أَنتُمْ تَمْتَرُونَ ②

၂။ ထို အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား ရွံ့မြေဖြင့် ဖန်ဆင်းတော်မူပြီးနောက် (အသက်သေဆုံးစေရန်) အချိန်တချိန်ကို သတ်မှတ်ပြဋ္ဌာန်း တော်မူခဲ့သော အရှင်ပင် ဖြစ်ပေသည်။ ၁ ၎င်းပြင် (ရှင်ပြန်ထစေရန်)အချိန်သည် ထိုအရှင်မြတ် ထံတော်၌သာ သတ်မှတ်ပြဋ္ဌာန်းပြီး ဖြစ်၏။ သို့ပါလျက် အသင်တို့သည် ဒွိဟသံသယ ဖြစ်ကြကုန်သတည်း။

➤➤ ယှဉ်တွဲဘက်ပြိုင်နိုင်သူ ဟူ၍လည်း တဦးတယောက်မျှမရှိ။ မည်သူ တဦးတယောက်မျှ ထို အရှင်မြတ်၏ ကိစ္စ၌ စွက်ဖက် နိုင်သည်လည်းမရှိ။ ထိုအရှင်မြတ်သည် ကမ္ဘာအဝှန်းကို မွေးမြူတော်မူသော အရှင်၊ ပိုင်ဆိုင်တော်မူသောအရှင်၊ မိမိ၏အလိုတော်အတိုင်း ပြုလုပ်စီရင်တော်မူသော အရှင်၊ ဘုန်းတော်အစုံ၊ ဉာဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသော အရှင် ဖြစ်တော်မူ၏။ သို့ဖြစ်ပေရာ ထိုအရှင်မြတ် တပါးတည်းသာလျှင် ခပ်သိမ်းကုန်သော ချီးမွမ်း ထောမနာခြင်းများကို ခံထိုက်တော်မူပေသည်။ ယင်းသို့သော အဖြစ်မှန်များကို သိရှိကြပါလျက် နှင့်ပင် ကာဖိရ်များသည် အခြား အရာများကို အလ္လာဟ် အရှင်မြတ်နှင့် တန်းတူထား၍ ကိုးကွယ်ကြသည်မှာ အံ့ဘွယ်ရာပင်။

(၁) အထက်တွင် "အာလမေ့ကဗီရ်" ခေါ် ကမ္ဘာကြီးကို ဖန်ဆင်းတော်မူသည့်အကြောင်းပါရှိ၏။ ဤမုကူပါဌ်တော်တွင် "အာလမေ့ဆွဃီရ်" ခေါ် ကမ္ဘာငယ် (ဝါ) လူသားကိုဖန်ဆင်းတော်မူသည့်အကြောင်း မိန့်ဆိုထားတော်မူသည်။ အလ္လာဟ်အရှင်မြတ်သည် လူသားတို့၏ဘခင်ကြီး အာဒမ်သခင်အား အစတွင် ဖန်ဆင်းတော်မူရာ၌ အသက်မရှိသောမြေဖြင့် မြေရုပ်တခု ပြုလုပ်တော်မူ၏။ ထို့နောက် ထိုမြေရုပ်တွင် အသက်ဇီဝိန်ကို ထည့်သွင်းတော်မူ၏။ လူသားတို့နှင့်သက်ဆိုင်သည့် အရည်အချင်းများကို ပေးသနားတော်မူ၏။ ယခုလည်း အလ္လာဟ်အရှင်မြတ်၏ ဘုန်းတန်ခိုးတော်ဖြင့် မြေမှစားသောက်ဘွယ် ကောက်ပဲသီးနှံများ ဖြစ်ထွန်းလျက်ရှိ၏။ ထိုစားဘွယ် သောက်ဘွယ်များကို လူသားတို့သည် မှီဝဲစားသုံးခြင်းအားဖြင့် လူသားတို့တွင် အသွေးအသား၊ သုတ်ရည်၊ သုတ်သွေးများ၊ ဖြစ်လာ၏။ ထိုသုတ်သွေးမှတဖန် လူသားတို့သည် ဖြစ်ပွားလာကြ၏။ အချုပ်အားဖြင့်ဆိုရသော်၊ အလ္လာဟ်အရှင်မြတ်သည် လူသားတို့ကို မရှိရာမှ ရှိရာသို့ ဖန်ဆင်းတော်မူ၏၊ လူသားတို့ အသီးသီး သေဆုံးကြရန် အချိန်ကိုလည်း၊ သတ်မှတ်ထားတော်မူ၏။

လူသည် မြေမှဖြစ်၏။ မြေအတွင်းသို့ပင် ပြန်လည်ရောက်ရမည်ဖြစ်၏။ လူသားတို့ အသီးသီး သေဆုံးသည်ကို "ကေ့ယာမက်သွဟ်ဃ်ရာ" ကေ့ယာမက်အငယ် ဟုခေါ်သည်။ ကမ္ဘာကြီးပျက်စီးခြင်းကို "ကေ့ယာမတ်ကွဟ်ဗ်ရာ" ကေ့ယာမက်အကြီး ဟုခေါ်သည်။ ကမ္ဘာငယ်(ဝါ)လူသားတို့သည် သတ်မှတ်ထားသည့် အချိန်တွင် သေကြေပျက်စီးလျက် ရှိကြသည်ကို ထောက်ရှုဆင်ခြင် မြော်မြင်သည်ရှိသော်၊ ကမ္ဘာကြီးသည်လည်း၊ သတ်မှတ်ထားသည့်အချိန်တွင် မုချ ပျက်စီးမည်ကို ကောင်းစွာသိရှိနိုင်ပေသည်။

လူသားတို့သည်၊ မကြာခဏ သေဆုံးလျက်ရှိရာ ၎င်းတို့သည် မိမိတို့၏သေဆုံးမည့် အချိန်ကာလ အပိုင်းအခြားများကို မှန်းဆနိုင်ကြပေသည်။ ကမ္ဘာကြီးပျက်စီးမည့် အချိန်ကိုမူ လူသားတို့ မသိနိုင်ပေ။ အလ္လာဟ်အရှင်မြတ်သာလျှင်၊ အတိအကျ သိတော်မူသည်။ လူသားတို့၏ ရှင်ခြင်း၊ သေခြင်းများကို ➤➤

وَهُوَ اللّٰهُ فِى السَّمٰوٰتِ وَفِى الْاَرْضِ ۖ يَعْلَمُ سِرَّكُمْ وَجَهْرَكُمْ وَيَعْلَمُ مَا تَكْسِبُوْنَ ③

၃။ အမှန်စင်စစ် မိုးများနှင့်မြေတွင်၊ ထို အလ္လာဟ် အရှင်မြတ် သည်သာလျှင်၊ ကိုးကွယ်ခြင်းကို ခံထိုက်တော်မူသော (တဆူတည်းသော) အရှင် ဖြစ်တော်မူသည်။ ထို အရှင်မြတ်သည် အသင်တို့၏ လျှို့ဝှက်ထားသော အဖြစ်အပျက် အခြေအနေကိုငင်း၊ အသင်တို့၏ ပေါ်လွင်ထင်ရှားစေသော အဖြစ်အပျက် အခြေအနေကိုငင်း၊ သိတော်မူ၏။ ငင်းပြင် ထို အရှင်မြတ်သည်အသင်တို့ ရှာဖွေဆည်းပူး ပြုလုပ်ကြသမျှသော အရာများကိုလည်း (အကြွင်းမဲ့)သိတော်မူသည်။ [၁]

وَمَا تَأْتِيْهِمْ مِّنْ اٰيَةٍ مِّنْ اٰيٰتِ رَبِّهِمْ اِلَّا كَانُوْا عَنْهَا مُعْرِضِيْنَ ④

၄။ ငင်းပြင် ထိုသူတို့ထံ ထိုသူတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်မှ မည်သည့် သက်သေသာဓက လက္ခဏာမျိုးမဆို [၂] ဆိုက်ရောက်လာခဲ့သည်ရှိသော် ထိုသူတို့သည် ထိုသက်သေသာဓက လက္ခဏာတော်များမှ မျက်နှာလွှဲဖယ်ကျောခိုင်း သွားကြသည်ချည်းသာတည်း။

>> တွေ့မြင်နေကြရပါလျက် ကမ္ဘာကြီးပျက်စီးမည့်အရေးတွင် ဒွိဟ သံသယမကင်းဖြစ်နေကြသူများမှာ အံ့ဩစရာပင် ဖြစ်လေသည်။

(၁) အလ္လာဟ်အရှင်မြတ်သည် မိုးများနှင့်မြေကိုလည်း၊ ဖန်ဆင်းတော်မူ၏။ အမှောင်များနှင့် အလင်းရောင်ကိုလည်း ဖန်ဆင်းတော်မူ၏။ လူသားတို့ကိုလည်း ဖန်ဆင်းတော်မူ၏။ အသက်သေဆုံးရန် အချိန်လည်းသတ်မှတ်တော်မူ၏။ ရှင်ပြန်ထရမည့် အချိန်ကိုလည်း ထိုအရှင်မြတ်ပင်သိတော်မူ၏။ ထိုအရှင်မြတ်သည် အသင်တို့ ပေါ်လွင်ထင်ရှားစေသော အကြောင်းများကိုလည်း သိတော်မူ၏။ အသင်တို့၏ ထိန်ချန်လျှို့ဝှက်ထားသော အကြောင်းများကိုလည်း သိတော်မူ၏။ ထိုအရှင်မြတ်သည် အသင်တို့ဆည်းပူးကြသမျှသော ကောင်းမှု၊ မကောင်းမှု အစုစုကိုလည်း အကြွင်းမဲ့ သိတော်မူ၏။ ယင်းသို့သိတော်မူသည့်အလျောက် ကောင်းကျိုး၊ မကောင်းကျိုးများကိုလည်း ပေးတော်မူမည်ဖြစ်၏။ သို့ဖြစ်ပေရာ ထိုထိုသောဂုဏ်တော်များနှင့် ပြည့်စုံတော်မူသော တဆူတည်းသော အလ္လာဟ်အရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ကြရပေမည်။ ထိုအရှင်မြတ်အားသာလျှင် ချီးမွမ်းထောမနာ ပြုကြရပေမည်။ (ထာနဝီကိုမှီးသည်)။

(၂) ဤမုဗာရက်ပါဌ်တော်တွင်ပါရှိသော "အာယတ်" ဟူသောပုဒ်၌ "တရှီရီအီ" တရားဒေသနာတော်နှင့် သက်ဆိုင်သော သက်သေလက္ခဏာတော်များ၊ 'တက်ဝီနီ' ဖန်ဆင်းတော်မူခြင်းနှင့်သက်ဆိုင်သော သက်သေလက္ခဏာတော်များ အကျုံးဝင်သည်။ ဆိုလိုသည်ကား- အဆိုပါ "အာယတ်"တွင် မှန်ကန်သောသာသနာများ ထွန်းကားခြင်း၊ ထိုသာသနာများ၏ အဆုံးမညွှန်ကြားများ တရားဓမ္မများလည်း အကျုံးဝင်၏။ ထို့အတူ "မုအ်ဂျိဇတ်" >>

فَقَدْ كَذَّبُوا بِالْحَقِّ لَمَّا جَاءَهُمْ
فَسَوْفَ يَأْتِيهِمْ أَنْبَٰٓؤُا مَا
كَانُوا بِهِ يَسْتَهْزِءُونَ ⑤

၅။ သို့ဖြစ်ပေရာ ၎င်းတို့သည် မိမိတို့ထံ "အမှန်" ရောက်ရှိလာသောအခါ၊ ထိုအမှန်ကိုလည်း ငြင်းပယ်လိုက်ကြလေသည်။ သို့ဖြစ်၍ ၎င်းတို့ထံ မကြာမြင့်မီကာလအတွင်း အကြင်အရာ၏ သတင်းမှန်သည် ရောက်လာပေမည်။ ထိုအရာနှင့်စပ်လျဉ်း၍ ၎င်းတို့သည် ပြက်ချော် ပြောင်လှောင်လေ့ရှိခဲ့ကြ၏။

أَلَمْ يَرَوْا كَمْ أَهْلَكْنَا مِنْ قَبْلِهِمْ
مِّنْ قَرْنٍ مَّكَّنَّٰهُمْ فِي الْأَرْضِ
مَا لَمْ نُمَكِّنْ لَّكُمْ وَأَرْسَلْنَا السَّمَآءَ
عَلَيْهِمْ مِّدْرَارًا وَّجَعَلْنَا
الْأَنْهَٰرَ تَجْرِي مِنْ تَحْتِهِمْ
فَأَهْلَكْنَٰهُمْ بِذُنُوبِهِمْ
وَأَنْشَأْنَا مِنْ بَعْدِهِمْ
قَرْنًا ءَاخَرِينَ ⑥

၆။ ငါအရှင်မြတ်သည် ၎င်းတို့အလျင် *အဘယ်မျှလောက်သော လူမျိုးတို့ကို* [၁] ပျက်စီးစေတော်မူခဲ့သည်ကို ထိုသူတို့သည် မမြင်ခဲ့ကြသလော။ ငါအရှင်မြတ်သည် ထိုလူမျိုးတို့အား ကမ္ဘာမြေပြင်ဝယ် အခြေစိုက် တည်မြဲစေတော်မူခဲ့သည့် နည်းမျိုးဖြင့် အသင်တို့အား အခြေစိုက် တည်မြဲစေတော်မူခဲ့သည် မဟုတ်ပေ။ ထို့ပြင်တဝ ငါအရှင်မြတ်သည် ၎င်းတို့အပေါ်၌ မိုးကို သည်းထန်စွာ ရွာသွန်းစေတော်မူခဲ့၏။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုသူတို့၏ဥယျာဉ်များ၊ အိမ်များအောက်မှ စမ်းချောင်းများကိုလည်း စီးဆင်းစေတော်မူခဲ့၏။ ထို့နောက် ငါအရှင်မြတ်သည် ယင်းသူတို့အား ယင်းသူတို့၏ ပြစ်မှုဒုစရိုက်များကြောင့် ပျက်စီးစေတော်မူခဲ့လေသည်။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုသူတို့၏နောက်တွင် အခြားလူမျိုးတို့ကို ဖန်ဆင်းတော်မူခဲ့လေသတည်း။

---

➤➤ တန်ခိုးပြာဋိဟာများ၊ မိုးခေါင်ခြင်း၊ မြေလျှင်တုန်လှုပ်ခြင်း၊ စသည့် ကြောက်ဘွယ်ကောင်းသော သက်သေလက္ခဏာတော် များလည်း အကျုံးဝင်ပေသည်။ ကြည့်-မာရိဒီ၊ အ-၂၊ စ-၂၇၉၊ အအ-၅။

(၁) "ကရ်န်" ဟူသောပုဒ်နှင့်စပ်လျဉ်း၍ ခေတ်အခါကာလကို သတ်မှတ်ပိုင်းခြားရာတွင် အဆိုပြားလျက်ရှိ၏။ အဆိုအရပ်ရပ်အနက် အလယ်အလတ်ဖြစ်သော အဆိုအရ၊ နှစ်ပေါင်း(၇၀)၊ သို့မဟုတ် နှစ်ပေါင်း(၈၀)ဖြစ်သည်။ အချို့အဆိုအရ၊ နှစ်ပေါင်း(၁၀၀)၊ သို့မဟုတ် နှစ်ပေါင်း(၁၀၀)ထက်ပိုသော အချိန်ကာလဖြစ်သည်။ အချို့အဆိုအရ၊ နှစ်ပေါင်း(၆၀)၊ သို့မဟုတ်(၄၀)ဖြစ်သည်။ အသိဉာဏ်နှင့်ယှဉ်၍ဆိုရသော်၊ ခေတ်တိုင်းခေတ်တိုင်းတွင် လူများ၏ အလယ်အလတ်ဖြစ်သော သက်တမ်းကို သတ်မှတ်ခြင်းပင်ဖြစ်၏။ ယုတ္တိလည်းရှိသည်။ ➤➤

وَلَوْ نَزَّلْنَا عَلَيْكَ كِتٰبًا فِيْ قِرْطَاسٍ فَلَمَسُوْهُ بِاَيْدِيْهِمْ لَقَالَ الَّذِيْنَ كَفَرُوْٓا اِنْ هٰذَآ اِلَّا سِحْرٌ مُّبِيْنٌ ⑦

၇။ ၎င်းပြင် အကယ်၍ ငါ အရှင်မြတ်သည် အသင်၏အပေါ်သို့ စာရွက်တွင် ရေးသားထားသော ကျမ်းတစောင်စောင်ကို ထုတ်ပြန်တော်မူခဲ့သော်၊ ထို့နောက် ထိုသူတို့သည် ယင်းကျမ်းကို မိမိတို့၏ လက်များဖြင့် ထိတွေ့ စမ်းသပ်ခဲ့ကြသည်ရှိသော်၊ သို့တစေလည်း "ကာဖိရ်" မယုံမကြည် သွေဖည် ငြင်းပယ်သော သူတို့ကမူ "ဤသည် အလွန်ထင်ရှားသော စုန်းပယောဂ ဖြစ်သည်" ဟူ၍ပင် မုချ *ပြောဆိုကြပေမည်။* ^၁

---

➤➤ အချို့ပညာရှင်များက "လူမျိုးတမျိုးတည်လျက်ရှိသည့် စုပေါင်းနေထိုင်မှုကို အကြောင်းပြု၍ ခေတ်ကို သတ်မှတ်ကြသည်။ ဥပမာ–ဇူဂျာဂျ်က ကရ်န် ဟူသည် ခေတ်တခေတ်ရှိ အကြင်သို့သော လူများကိုဆို၏။ ၎င်းတို့တွင်၊ နဗီတပါးဖြစ်စေ၊ သို့မဟုတ် ပညာအရပ်ရပ်တွင် ထူးချွန်စွာတတ်မြောက်သော ပါရဂူတဦးဖြစ်စေ၊ သို့မဟုတ် ဘုရင်တပါးဖြစ်စေ ပေါ်ထွန်းခဲ့၏။" ဤသည် ကုရ်အာန်ကျမ်းမြတ်၏ အသုံးအနှုန်းနှင့်အလွန်နီးစပ်၏။ အဘယ်ကြောင့်ဆိုသော နဗီတမန်တော် နူဟ်(အလိုင်ဟစ္စလာမ်)၏ အမျိုးသားများသည် 'ကရ်န်' ဖြစ်၏။ အမှန်မှာ တမန်တော်နူဟ်(အလိုင်ဟစ္စလ္လမ်)သည် မိမိ၏အမျိုးသားများတွင် နှစ်ပေါင်း(၁၀၀၀)ခန့် နေထိုင်ခဲ့၏။ "အာဒ်" အမျိုးသားများသည်လည်း၊ "ကရ်န်" ဖြစ်၏။ ထို့အတူ တမန်တော်ဆွာလစ်ဟ်(အလိုင်ဟစ္စလာမ်)၏ အမျိုးသားများသည်လည်း၊ "ကရ်န်" ပင်ဖြစ်၏။

"ကရ်န်" ဟူသောစကားကို ခေတ်ဟူသောစကား၏ အနက်၌လည်း အသုံးပြုပေသည်။

ယခုအခါ စာပေလောကတွင် "ကရ်န်" ဟူသော စကားသည် (ရာစု) နှစ်(၁၀၀)၏ အဓိပ္ပါယ်၌ အထူး ကျော်ကြားလျက် ရှိပေသည်။

⑴ မက္ကာမြို့ရှိ အချို့မွတ်ရှ်ရစ်များက တမန်တော်မြတ်အား၊ 'သင်သည် စာရွက်တွင် ရေးမှတ်ထားသော ကျမ်းဂန်တစောင်ကို ကောင်းကင်မှယူဆောင်လာပါ။ သို့ယူဆောင်လာရာတွင် ကောင်းကင်တမန် ၄–ပါးသည် လည်း၊ ထိုကျမ်းစာနှင့်အတူ လိုက်ပါလာကြပြီးလျှင် ကျွန်ုပ်တို့ရှေ့မှောက်တွင် ထိုကောင်းကင်တမန်များက ဤကျမ်းဂန်သည် အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ်တော်မူသော ကျမ်းဂန်အဟုတ်အမှန် ဖြစ်ပါသည်ဟု သက်သေထွက်ဆိုကြရမည်၊ သို့ဖြစ်လျှင် ကျွန်ုပ်တို့သည် အသင့်အား ယုံကြည်ပါမည်။" ဟု ပြောဆိုခဲ့ကြသည်။

ဤမုကဒ္ဒပါဌ်တော်(၆း၇)တွင် အဆိုပါမွတ်ရှ်ရစ်က်တို့၏ တောင်းဆိုမှုကိုပင် ဖြေကြားတော်မူသည်။ ထိုမွတ်ရှ်ရစ်က်များသည် လက်ရှိအခြေအနေမှာပင် ကုရ်အာန်ကျမ်းမြတ်ကို စုန်းပယောဂဟူ၍ ဆိုလျက်ရှိကြ၏။ ကုရ်အာန်ကျမ်းမြတ်ကို ယူဆောင်ဟောကြားသော တမန်တော်မြတ်အား စုန်းပယောဂဆရာဟူ၍ ဆိုလျက်ရှိကြ၏။ အကယ်တန္တ၊ အလ္လာဟ်အရှင်မြတ်သည် ရေးမှတ်ထားသော ကျမ်းဂန်တစောင်ကို ကောင်းကင်မှချပေးတော်မူအံ့၊ ပြီးနောက် ထိုကျမ်းဂန်ကို ၎င်းတို့ကိုယ်တိုင် မိမိတို့၏လက်များဖြင့် ကိုင်တွယ်စမ်းသပ်ကြည့်ကြအံ့၊ သို့တစေလည်း ၎င်းတို့က 'ဤသည်ထင်ရှားသော စုန်းပယောဂသာဖြစ်သည်' ဟူ၍ ပြောဆိုကြပေမည်။ ➤➤

**တနည်း။**

ၚင်းပြင် အကယ်၍ ငါ အရှင်မြတ်သည် အသင်၏အပေါ်သို့ စာရွက်တွင် ရေးသားထားသော ကျမ်းတစောင်စောင်ကို ထုတ်ပြန်တော်မူခဲ့လေသည် ရှိသော်၊ ထို့နောက် ထိုသူများသည် ထိုကျမ်းစာကို မိမိတို့၏လက်များဖြင့် စမ်းသပ်ကိုင်တွယ် ကြည့်ကြသည်ရှိသော်၊ ထိုအခါတွင်လည်း ကာဖိရ်များက ‘ဤသည် ထင်ရှားသော စုန်းပယောဂမျှသာဖြစ်သည်’ ဟူ၍ပင် ပြောဆိုကြပေမည်။

**တနည်း။**

စင်စစ်သော်ကား အကယ်၍သာ ငါအရှင်မြတ်သည်အသင်၏အပေါ်ဝယ် စာရွက်တွင်ရေးသားထားသော ကျမ်းဂန်တစောင်ကို ထုတ်ပြန်ချမှတ်တော်မူအံ့။ ထို့နောက်ထိုသူသည် ယင်းကျမ်းဂန်ကို မိမိတို့၏လက်များဖြင့် စမ်းသပ် ထိတွေ့ခဲ့ကြငြားအံ့လည်း (ၚင်းတို့အနက်) ကာဖိရ် သွေဖည်ငြင်းပယ်သော သူတို့မူကား ‘ဤသည် အလွန်ထင်ရှားသောစုန်းပယောဂမျှဖြစ်သည်’ ဟူ၍ပင် ပြောဆိုကြပေမည်။

၈။ ၚင်းပြင် ထိုသူတို့က “အဘယ်ကြောင့် ၚင်း (နဗီတမန်တော်)၏အထံသို့ ကောင်းကင်တမန်တပါး စေလွှတ်ထားခြင်း မရှိပါသနည်း” ဟု ပြောဆိုကြကုန်၏။ ①

وَقَالُوا لَوْلَآ أُنْزِلَ عَلَيْهِ مَلَكٌ ۖ وَلَوْ أَنْزَلْنَا مَلَكًا لَّقُضِيَ

---

➤➤ တရားမေ့ကိုလုံးဝ လက်မခံလိုသော အကြင်သူမိုက်အား အဘယ်မျှ ကြီးမားထင်ရှားသော အထောက်အထား သက်သေသာဓကများကို ပြငြားသော်လည်း၊ အကျိုးရှိမည်မဟုတ်ပေ။ ဘယ်သောအခါ၌ ဒွိဟာသံသယ ကင်းမည်လည်း မဟုတ်ပေ။

① အရဗ်နိုင်ငံရှိ အချို့ကာဖိရ်များက ‘အဘယ့်ကြောင့် ထို(နဗီတမန်တော်)ထံသို့ ကောင်းကင်တမန် မလာရောက်ပါသနည်း’ ဟုပြောဆိုကြ၏။ ဆိုလိုသည်ကား ကောင်းကင်တမန်တပါးသည် လာရောက်၍ ➤➤

الْأَمْرُ ثُمَّ لَا يُنْظَرُونَ ⑧

စင်စစ်မှာမူ အကယ်၍သာ ငါအရှင်မြတ်သည် ကောင်းကင်တမန် တပါးပါးကို စေလွှတ်တော်မူခဲ့ပါလျှင် အရေးကိစ္စမှာ မုချဧကန် ပြီးဆုံးသွားမည်သာဖြစ်၏။ ထို့နောက်ပိုင်းတွင် ၎င်းတို့သည် (အပြစ်ပေးခြင်းမှ အနည်းငယ်မျှ) ရွှေ့ဆိုင်းခွင့်ကို ရရှိကြလိမ့်မည် မဟုတ်ပေ။

وَلَوْ جَعَلْنٰهُ مَلَكًا لَّجَعَلْنٰهُ رَجُلًا وَّلَلَبَسْنَا عَلَيْهِمْ مَّا

၉။ ထိုမှတပါး အကယ်၍သာ ငါအရှင်မြတ်သည် ၎င်း(ရစူလ်တမန်တော်)အား ကောင်းကင်တမန် တပါး ပြုလုပ်တော်မူခဲ့ပါလျှင် မုချဧကန် ငါအရှင်မြတ်သည် ထိုကောင်းကင်တမန်ကိုလည်း (ရုပ်ဆင်း

---

➤➤ ၎င်းတို့ရှေ့တွင် ထိုနဗီတမန်တော်သည် နဗီတမန်တော်အမှန် ဖြစ်ပါသည်ဟူ၍ ထောက်ခံပြောဆိုရမည်။ သို့မှသာလျှင် ကျွန်ုပ်တို့သည် ထိုနဗီတမန်တော်အား၊ ယုံကြည်မည်ဟု ပြောဆိုကြလေသည်။

ကာဖိရ်များသည် ဤကဲ့သို့ တောင်းဆိုခဲ့ကြသည့်အကြောင်း ကုရ်အာန်ကျမ်းမြတ် (၁၅း၇-၁၅ ၁၇း၉၀-၉၃။ ၂၅း၇-၈။ ၄၃း၅၃)တွင် တွေ့ရှိရပေသည်။

ဤမုကွာပါဋ္ဌ်တော်တွင် အဆိုပါ တောင်းဆိုချက်နှင့်စပ်လျဉ်း၍ ဖြေကြားထားတော်မူသည်။

အကယ်၍ ကောင်းကင်တမန်တပါးသည် ၎င်း၏မူရင်းရုပ်ဆင်းသဏ္ဍာန်နှင့် ရောက်လာခဲ့သည်ရှိသော် ကာဖိရ်များသည် တမိနစ်မျှပင် ခံနိုင်ကြမည်မဟုတ်ပေ။ ကောင်းကင်တမန်၏ အရှိန်အဝါကြောင့် အသက်ထွက်သွားကြပေမည်။

နဗီတမန်တော်များ၌သာလျှင် ကောင်းကင်တမန်များကို မြင်နိုင်သည့် အရည်အချင်းရှိပေသည်။ တမန်တော်မြတ်မိုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည်ပင်လျှင် အပါးတော်စေတမန် ဂျစ်ဗ်ရီလ် (အလိုင်ဟစ္စလာမ်)အား ၎င်း၏ မူရင်းရုပ်ဆင်းသဏ္ဍာန်နှင့် နှစ်ကြိမ်မျှသာ မြင်ဘူးတော်မူခဲ့သည်။ အခြား နဗီတမန်တော်များအနက် မည်သည့်နဗီတမန်တော်ကမျှ (ကောင်းကင်တမန်တပါးကို ၎င်း၏ မူလ ရုပ်ဆင်းသဏ္ဍာန်နှင့်) မြင်ဘူးသည်ဟူ၍ကား ကျမ်းလာအထောက်အထား မတွေ့ရှိရပေ။

၎င်းပြင် အကယ်၍ ထိုကာဖိရ်များက တောင်းဆိုကြသည့်အတိုင်း အလ္လာဟ် အရှင်မြတ် သည် ကောင်းကင်တမန်အား စေလွှတ်တော် မူခဲ့သည်ရှိသော် ယင်းသို့ စေလွှတ်တော် မူပြီးသည့် နောက်တွင် လည်း ကာဖိရ်များသည် မယုံကြည် ကြသည်ရှိသော် (၎င်းတို့၏ မနာလို မုန်းတီးမှုများကို ထောက်ရှုခြင်း အားဖြင့် ၎င်းတို့သည် ယုံကြည်ကြမည်လည်း မဟုတ်ပေ။) သို့ဖြစ်လျှင် အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့အား လုံး၀ ဖျက်ဆီးပစ်တော်မူမည်ပင် ဖြစ်သည်။ ၎င်းတို့သည် အပြစ်ဒဏ်ခံရခြင်းမှ အနည်းငယ်မျှပင် ဆိုင်းငံ့ခွင့် ရရှိကြမည် မဟုတ်ပေ။ ဤသည်ကိုထောက်သော် ၎င်းတို့၏တောင်းဆိုချက်အတိုင်း ကောင်းကင်တမန်ကို စေလွှတ်တော်မမူခြင်းသည်ပင်လျှင် ကရုဏာထားတော်မူခြင်း ဖြစ်သည်ဟူ၍ ယူဆရမည်။

يَلْبِسُونَ ⑨

သဏ္ဌာန်အားဖြင့် လူ) ယောကျ်ားသာလျှင် ပြုလုပ်တော်မူမည်ဖြစ်သည်။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုသူတို့အား (ယခု) ထိုသူများ ယုံမှားသံသယဖြစ်သကဲ့သို့ပင် (ထပ်မံ၍) မုချ ယုံမှားသံသယ *ဖြစ်စေတော်မူမည် ဖြစ်၏။* ၁

وَلَقَدِ اسْتُهْزِئَ بِرُسُلٍ مِّن قَبْلِكَ فَحَاقَ بِالَّذِينَ سَخِرُوا مِنْهُم مَّا كَانُوا بِهِ يَسْتَهْزِءُونَ ⑩

၁၀။ (အို-နဗီတမန်တော်) အသင်၏အထက် အဆက်ဆက်က ရစူလ်တမန်တော်များသည်လည်း ပြက်ချော်ပြောင်လှောင်ခြင်းကို ထင်ရှားစေကန် အမှန်ခံ၍သွားခဲ့ကြရသည်။ ထို့နောက်ယင်းရစူလ် တမန်တော်တို့အား ပြက်ချော်ပြောင်လှောင် ကြလေသောသူတို့ကို ၎င်းတို့ ပြက်ချော်ပြောင်လှောင်ခဲ့ကြသော *အပြစ်ဒဏ်သည်ပင်လျှင်ဝန်းဝိုင်းခဲ့လေသည်။* ၂

(၁) ကာဖိရ်များသည် ၎င်းတို့တောင်းဆိုကြသည့်အတိုင်း၊ ကောင်းကင်တမန် ရောက်ရှိလာခဲ့သည်ရှိသော်၊ ကာဖိရ်များသည် ယုံကြည်ကောင်း ယုံကြည်ကြပေမည်ဟူ၍ ဒွိဟသံသယဖြစ်ရှိနိုင်ပေသည်။ သို့ရာတွင် ဤသို့သော ဒွိဟသံသယဖြစ်ခြင်းသည် အခြေအနေအဖြစ်မှန်နှင့်မှကား၊ လုံးဝမကိုက်ညီသော ဒွိဟဖြစ်ခြင်းမျိုး သာလျှင် ဖြစ်ပေမည်။ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်တမန်တပါးကို ရစူလ် တမန်တော်အဖြစ် စေလွှတ်တော်မူခဲ့သည်ရှိသော် လူသာမန်တို့သည် မိမိတို့၏စက္ခုအာရုံများဖြင့်၊ ထိုကောင်းကင် တမန်ကို ၎င်း၏ မူရင်းရုပ်ဆင်းသဏ္ဌာန်နှင့် လုံးဝမမြင်နိုင်ကြပေရာ ထိုအရှင်မြတ်သည် ထိုကောင်းကင် တမန်ကိုလည်း လူ၏ရုပ်ဆင်းသဏ္ဌာန်နှင့်ပင် စေလွှတ်တော် မူမည်ဖြစ်ပေသည်။ ထိုအခါ ကာဖိရ်များသည် လူ၏ ရုပ်ဆင်းသဏ္ဌာန်ဖြစ်သော ထို ကောင်းကင်တမန်ကို လူဖြစ်သည်ဟူ၍ မှတ်ထင်ကာ ယခင်ကဲ့သို့ပင် ဒွိဟသံသယ ဖြစ်ရှိကြဦးမည်ပင် ဖြစ်သည်။ သို့ဖြစ်ရာ ကောင်းကင်တမန်ကို စေလွှတ်တော်မူခြင်း အားဖြင့် ကာဖိရ်များ၌ တစုံတရာ အကျိုးရှိမည် မဟုတ်ပေ။ ၎င်းတို့၏ ဒွိဟသံသယသည် ယခင်အတိုင်းပင် ဖြစ်ရှိနေမည်။ ထိုကာဖိရ်များ၌ အကျိုးတစုံတရာ မရှိသည့်အပြင် ဆုံးရှုံးရန်သာလျှင် ရှိပေသည်။ အဘယ့်ကြောင့်ဆိုသော် ကောင်းကင်တမန် ရောက်ရှိလာပြီးသည့်နောက် ကာဖိရ်များသည် ယခင်ကဲ့သို့ပင် မယုံကြည်ဘဲ ဒွိဟသံသယ ရှိနေကြသော်။ (ဖြစ်ရှိနေကြမည်မှာလည်း အမှန်ပင်ဖြစ်၏) ၎င်းတို့သည် မုချပြစ်ဒဏ်ခတ်ခြင်းကို ခံကြရပေမည်။ ဆိုင်းငံ့ခွင့်ပင် ရရှိကြမည် မဟုတ်ပေ။ ထိုအတွက်ကြောင့်ပင် အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်တမန်ကို စေလွှတ်ပေးတော် မမူခဲ့ခြင်း ဖြစ်ပေသည်။

အမှန်မှာ ကာဖိရ်များသည် လက်ရှိ(မုအ်ဂျိဇဟ်) တန်ခိုးပြာဋိဟာများနှင့် ဒေသနာတော်များကို မစဉ်းစား မဆင်ခြင်ကြဘဲ မနာလိုမုန်းထားကြသည့် အတွက်သာလျှင် ဤသို့သော စကားများကို ပြောဆိုနေကြခြင်းဖြစ်သည်။

၁၁။ (အို-နဗီတမန်တော် အကယ်၍ ၎င်းတို့သည် ရှေးဟောင်းလူများ အပြစ်ဒဏ်ခံစားခဲ့ကြရသည်ကို မယုံမကြည်ငြင်းပယ်ကြပါမူ) အသင်သည် (ယင်းသူတို့အား ဤသို့ ပြောကြားပါလေ၊) အသင်တို့သည် ပထဝီမြေပြင်ဝယ် သွားလာ လည်ပတ်ကြလေကုန်။ ၎င်းနောက် မဟုတ်မမှန်ဟူ၍ ငြင်းပယ်သော သူတို့၏အကျိုးသည် မည်သို့ရှိခဲ့သည်ကို အသင်တို့ *ကြည့်ရှုကြလေကုန်။* ၁

قُلْ سِيرُوا فِي الْأَرْضِ ثُمَّ انظُرُوا كَيْفَ كَانَ عَاقِبَةُ الْمُكَذِّبِينَ ﴿١١﴾

၁၂။ (အို-နဗီတမန်တော်)အသင်သည် (ထိုသွေဖည်ငြင်းပယ်သော သူတို့အား) "မိုးကောင်းကင်များနှင့် ပထဝီမြေကြီး၌ ရှိရှိသမျှသောအရာတို့သည် မည်သူပိုင်ဆိုင်သောအရာများဖြစ်သနည်း"ဟု မေးမြန်းပါလေ။

قُل لِّمَن مَّا فِي السَّمَاوَاتِ وَالْأَرْضِ ۖ قُل لِّلَّهِ ۚ كَتَبَ

---

⑵ တမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ကာဖိရ်များသည် ပြက်ချော်လှောင်ကြသည့်အတွက် တမန်တော်မြတ်သည် စိတ်ပျက်တော်မူ၏။ ယခု ကာဖိရ်များက တဖန် တမန်တော်မြတ်အား ပြောင်လှောင်ခြင်းသည် အထူးအဆန်းမဟုတ်၊ အတိတ်ခေတ်များတွင် ပွင့်ခဲ့ကြသော နဗီတမန်တော်များသည်လည်း၊ ကာဖိရ်များ၏ ပြောင်လှောင်ခြင်းများကို ခံခဲ့ကြရသည့်အကြောင်း၊ ထိုသို့ပြောင်လှောင်သော ကာဖိရ်များသည် ၎င်းတို့၏ ပြောင်လှောင်ခြင်းများ၏ အပြစ်ဒဏ်ကို ခံသွားခဲ့ကြရသည့်အကြောင်း တမန်တော်မြတ်အား ပြောင်လှောင်ကြသော ကာဖိရ်များသည်လည်း အမှန်မှာ နှစ်ဘဝလုံးတွင် မိမိတို့ကိုယ်တိုင် မိမိတို့၏ ပျက်စီးခြင်းကို ဖန်တီးနေကြခြင်းပင် ဖြစ်ကြောင်းများကို ဤမုကဒ္ဒပါဠ်တော်တွင် မိန့်ဆိုထားတော်မူသည်။ (မာဂျိဒီ၊ အ-၂။ စ-၂၈၁။ အအ ၁၄)
① ကမ္ဘာမြေပြင်ဝယ် လှည့်ပတ်သွားလာ၍ ပျက်စီးသွားခဲ့ကြသော လူမျိုးများ၏ ကြွင်းကျန်ခဲ့သော အဆောက်အဦများ၊ မြို့ရွာဒေသများ၊ နောက်ဆုံးဖြစ်အင်များကို ကြည့်ပြီးသည့်နောက် အတိတ်ခေတ်များတွင် ဖြစ်ပျက်ခဲ့သော အဖြစ်အပျက်များကို စဉ်းစားတွေးတောကြည့်သည်ရှိသော် နဗီတမန်တော်များအား ငြင်းပယ်ခဲ့ကြသော လူမျိုးများသည် လူ့လောကတွင်ပင် အပျက်စီးကြီး ပျက်စီးခဲ့ကြသည်များကို ကောင်းစွာတွေ့ရှိရပေမည်။ နဗီတမန်တော်များအား၊ ငြင်းပယ်ခဲ့ကြသောသူများသည်ပင် ထိုကဲ့သို့ ပျက်စီးခဲ့ကြသည်ဖြစ်ပေရာ နဗီတမန်တော်မြတ်အား ပြက်ချော်ပြောင်လှောင်သော သူများမှာမူကား အသို့ဖြစ်ကြမည်ကို ကောင်းစွာ ဆင်ခြင်နိုင်ပေသည်။ (အဘယ်မှာလျှင် ဆိုဘွယ်ရာရှိတော့အံ့နည်း။)

အတိတ်ခေတ်များတွင် ပျက်စီးခဲ့ကြသောလူမျိုးများ၏ အဖြစ်အပျက်အကြောင်းအရာများ၊ အတိတ်ခေတ်များတွင် ယဉ်ကျေးသိမ်မွေ့သော တန်ခိုးအာဏာကြီးမားသော အစိုးရတို့ တည်ဆောက်ထားခဲ့သည့် ပျက်စီးလျက်ရှိသော အဆောက်အဦးများကို လူသားတို့သည် ကြည့်ရှုဆင်ခြင်၍ သတိသံဝေဂ နှောင်တတရား ရယူကြရမည့်အကြောင်း၊ သင်္ခန်းစာယူကြရမည့် အကြောင်းကို ဤမုကဒ္ဒပါဠ်တော်တွင် သတိပေး နှိုးဆော်ထားတော်မူသည်။

عَلٰى نَفۡسِهِ الرَّحۡمَةَ ؕ لَيَجۡمَعَنَّكُمۡ اِلٰى يَوۡمِ الۡقِيٰمَةِ لَا رَيۡبَ فِيۡهِ ؕ اَلَّذِيۡنَ خَسِرُوۡۤا اَنۡفُسَهُمۡ فَهُمۡ لَا يُؤۡمِنُوۡنَ ⑫

(ထိုသူတို့သည် ပဌမသော် အမှန်အတိုင်း ဖြေကြားကြမည်ဖြစ်သည်။ အကယ်၍ အကြောင်းတစုံတရာကြောင့် အမှန်အတိုင်း မဖြေကြားခဲ့သည်ရှိသော်) အလုံးစုံတို့သည် အလ္လာဟ် အရှင်မြတ်ပိုင်ဆိုင်တော်မူသော အရာများသာဖြစ်ချေသည် ဟု အသင်ကပင် ဖြေကြားပါလေ။ [၁] ၎င်းပြင် ထိုအရှင်မြတ်သည် (သတိတရား ရရှိ၍ "ရှုရစ်က်" မှ ဝန်ချ တောင်းပန်သူတို့အား) *ကရုဏာပြုတော်မူရန် မိမိအပေါ်၌ တာဝန်အဖြစ် သတ်မှတ်ထားတော်မူပြီးဖြစ်သည်ဟုလည်း ပြောဆိုပါလေ။* [၂] ၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့အား ကိယာမတ်နေ့တွင် မုချ စုရုံးတော်မူမည်။ ထိုနေ့၏ (ဆိုက်ရောက်ခြင်း) ၌ အလျှင်းဒွိဟမရှိပေ။ အကြင် သူတို့သည် မိမိတို့ကိုယ်ကို နစ်နာ ပျက်စီးစေခဲ့ကြ၏။ ထိုသူတို့ကား "အီမာန်" ယုံကြည်ကြမည် မဟုတ်ပေ။

---

(၁) "တောင်ဟီဒ်" သည် မုချဧကန် အမှန်လည်းဖြစ်၏။ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို ခိုလှုံရန် အကြောင်းတရားလည်း ဖြစ်၏။ သို့ဖြစ်ပေရာ လူသားတို့သည် "တောင်ဟီဒ်" ကို လက်ခံကြရမည်သာဖြစ်၏။ အကယ်၍ "တောင်ဟီဒ်" ကို လက်မခံခဲ့ကြသည်ရှိသော် အပြစ်ဒဏ်ကို မုချခံကြရမည်ဖြစ်၏။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် မုချဆိုက်ရောက်မည်ဖြစ်သော ကိယာမတ်နေ့တွင် လူသားအားလုံးတို့အား သင်းချိုင်းများမှ ပြန်လည် ရှင်ပြန်ထစေတော်မူ၍ "မဟ်ရှရ်" မည်သော ကွင်းပြင်ကြီး၌ စုရုံးစေတော်မူပြီးလျှင် စောကြော စစ်ဆေးမေးမြန်း၍ ကျိုးပြစ် စီရင်တော်မူမည်ဖြစ်သည်။

တမန်တော်မြတ်သည် တောင်ဟီဒ်၊ ရဟ်မတ်၊ အဿာဇ်အကြောင်းများကို ဟောကြားတော်မူသော်လည်း၊ အသိဉာဏ် အမြင်မှန်ကို ဖျက်ဆီးထားသော အကြင်သူတို့သည်ကား "အီမာန်" ယုံကြည်ကြမည် မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် အလိုရှိသော အရာတစ်ခုကို ရှာဖွေဆည်းပူးရာ၌ အသိဉာဏ် အမြော်အမြင်ကို မုချ အသုံးပြုရပေမည်။ ယခုမူ မုရှ်ရစ်က်တို့ကား ထိုအသိဉာဏ်ကို အသုံးမပြုလိုကြသောကြောင့်တည်း။

(၂) ဤမုက္ခပါဌ်တော်တွင် "ထိုအရှင်မြတ်သည် မိမိအပေါ်၌ ကရုဏာတော်ပြုခြင်းကို တာဝန်အဖြစ် သတ်မှတ်ထားတော်မူသည်" ဟူ၍ ချွင်းချက်မပါဘဲ မိန့်ဆိုထားတော်မူခြင်းကို ထောက်ရှုသော် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်သည် သက်ရှိသက်မဲ့ အရာခပ်သိမ်းတို့ကို လွှမ်းခြုံလျက်ရှိသည်မှာ ထင်ရှားလှပေသည်။ အနည်းငယ်မျှ တွေးဆဆင်ခြင်မြော်မြင်ကြည့်ပါက၊ အလ္လာဟ်အရှင်မြတ်၏ အမျက်တော်တိုင်းတွင် နည်းများမဆို ကရုဏာတော် ပါဝင်လျက်ရှိကြောင်း အလ္လာဟ်အရှင်မြတ်၏ မြောက်မြားစွာသော ကရုဏာတော်များတွင် အနည်းငယ်မျှပင် အမျက်တော်မပါကြောင်းကို ကောင်းစွာသိနိုင်ပေသည်။ ထာနဝီ၊ (မစာအိလွတ်စ်စုံလူက်) အ-၃၊ စ-၈၃

وَلَهُۥ مَا سَكَنَ فِى ٱلَّيْلِ وَٱلنَّهَارِ ۚ وَهُوَ ٱلسَّمِيعُ ٱلْعَلِيمُ ﴿١٣﴾

၁၃။ ထိုမှတပါး ညဥ့်နှင့်နေ့တွင် နေထိုင်သောအရာများသည်လည်း *ထိုအရှင်မြတ် ပိုင်ဆိုင်တော်မူသောအရာများ ချည်းသာတည်း။* [၁] ၎င်းပြင် ထိုအရှင်မြတ်သည် အကြွင်းမဲ့ ကြားတော်မူသော အရှင်၊ အကြွင်းမဲ့ သိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူလေသတည်း။

قُلْ أَغَيْرَ ٱللَّهِ أَتَّخِذُ وَلِيًّا فَاطِرِ ٱلسَّمَـٰوَٰتِ وَٱلْأَرْضِ وَهُوَ يُطْعِمُ وَلَا يُطْعَمُ ۗ

၁၄။ (အို-နဗီတမန်တော်) အသင်သည် (ယင်းသူတို့အား) "အချင်းတို့ အကျွန်ုပ်သည် ('မုရှ်ရစ်က်' အခြားအရာများကိုပါ အလ္လာဟ်အရှင်မြတ်နှင့် တွဲဘက်ယှဉ်ပြိုင် ကိုးကွယ်ကြကုန်သော သူများကဲ့သို့ပင်) *မိုးများနှင့် ပထဝီမြေကို တီထွင်ဖန်ဆင်းတော်မူသော အရှင်* [၂] နှင့် (မိမိသာလျှင် လူသတ္တဝါအပေါင်းတို့ကို) ကျွေးမွေးစောင့်ရှောက်တော်မူ၍ (သူတပါး၏) ကျွေးမွေး စောင့်ရှောက်ခြင်းကို ခံရတော်မူခြင်းမှ ကင်းရှင်းတော်မူသော အလ္လာဟ်အရှင်မြတ်မှတပါး၊ အခြားတစ်စုံတစ်ဦးကို ကာကွယ်စောင့်ရှောက် ကြည့်ရှုစောင်မထိန်းသိမ်းသော အဆွေခင်ပွန်းအဖြစ် ရွေးချယ်ပြုလုပ်ရပါမည်လော" ဟု မေးမြန်းပါလေ။

---

(၁) ပဥ္စမ "အာယသ်' မုက္ခပါဌ်တော်(ဖ: ၁၂)တွင် မိုးများနှင့် ပထဝီမြေကြီးအကြောင်း မိန့်ဆိုထားတော်မူ၏။ ထိုမိုးနှင့်မြေအပြင် ဌာနဟူ၍မရှိချေ။ ဤ"အာယသ်" မုက္ခပါဌ်တော်တွင် နေ့နှင့်ညဥ့်အကြောင်း မိန့်ဆိုထားတော်မူ၏။ ထိုနေ့နှင့်ညဥ့်အပြင် အချိန်ကာလ သမယဟူ၍လည်း မရှိချေ။ ထို့အတွက် အလ္လာဟ်အရှင်မြတ်က မိမိသည် ဌာနနှင့် ဌာနများကို စိုးပိုင်တော်မူသောအရှင်မြတ် ဖြစ်တော်မူကြောင်း။ အချိန်ကာလ သမယနှင့် အချိန်ကာလ သမယအတွင်း ရှိသမျှသောအရာများကို စိုးပိုင်တော်မူသော အရှင်ဖြစ်တော်မူကြောင်း။ ဟောကြား ထားတော်မူသည်။ ဤကား အနန္တတန်ခိုးတော်ကို ဖွင့်ဟမိန့်တော်မူခြင်းတည်း။

(၂) ဤမုက္ခပါဌ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် မိမိဖန်ဆင်းတော်မူသော အရာများအနက် မိုးနှင့်မြေကို အထူးတလည် ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။ ယင်းသို့ အထူးတလည် ထုတ်ဖော်မိန့်တော်မူခြင်း အကြောင်းမှာ၊ (၁)အဖန်ဆင်းခံပစ္စည်းများတွင် အမြင်အားဖြင့် မိုးနှင့်မြေသည် အကြီးမားဆုံးဖြစ်ခြင်းကြောင့်ဖြစ်၏။ (၂)အခြားအကြောင်းတစ်ရပ်မှာ မုရှ်ရစ်က်တို့သည် မိုးနှင့်မြေကိုလည်း ကိုးကွယ်ရာ အရှင်သခင်များအဖြစ် မှတ်ယူထားကြရာ ယင်းသူတို့အား အသင်တို့ကိုးကွယ်ရာ အရှင်သခင်အဖြစ် မှတ်ယူထားကြသော ➤➤

قُلْ إِنِّيٓ أُمِرْتُ أَنْ أَكُونَ أَوَّلَ مَنْ أَسْلَمَ وَلَا تَكُونَنَّ مِنَ ٱلْمُشْرِكِينَ ⑭

ငင်းပြင် အသင်သည် ထိုသူတို့အား 'အချင်းတို့၊ အကျွန်ုပ်သည် ပထမဦးဆုံး အမိန့်ကိုလိုက်နာသူ မွတ်စ်လင်မ် ဖြစ်ရန်နှင့် အသင်သည် 'မုရှ်ရစ်က်' *ဘုရားအများကို ကိုးကွယ်သောသူတို့တွင် အပါအဝင် မဖြစ်လေနှင့် ဟူသော အမိန့်ကို ရရှိခဲ့သည်' ဟု ပြောကြားပါလေ။* [၁]

**တနည်း။**

(အို-နဗီတမန်တော်) အသင်ပြောပါလေ၊ ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်မှတပါး အခြားတစ်စုံတစ်ယောက်ကို ကိုးကွယ်ရာအရှင် ပြုလုပ်ရမည်လော၊ ထိုအရှင်မြတ်သည် မိုးများနှင့်ပထဝီမြေကို စတင်ဖန်ဆင်းတော်မူသောအရှင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် (သူတပါးတို့ကို) ကျွေးမွေးတော်မူ၏။ ထို အရှင်မြတ်သည် (သူတပါး၏) ကျွေးမွေးခြင်းကိုမူကား ခံရတော်မူသည်မဟုတ်ချေ။

(ငင်းပြင်) အသင်ပြောပါလေ၊ ကျွန်ုပ်သည် အစ္စလာမ်သာသနာကို ပဌမဦးဆုံး လက်ခံနာယူသူ ဖြစ်ရန် အမိန့်တော်ကို မုချ ရရှိ၏။ ထို့ပြင် အသင်သည် မုရှ်ရစ်က်များတွင် အပါအဝင် အလျင်း မဖြစ်လေနှင့်" (ဟုလည်း မြစ်တားတော်မူခြင်းကိုခံရ၏)။

➤➤ မိုးနှင့်မြေတို့သည်လည်း၊ အလ္လာဟ်အရှင်မြတ် ဖန်ဆင်းတော်မူသော အရာများသာလျှင်ဖြစ်ကြောင်း သိစေရန် ဖြစ်၏။ (မာဂျိဒီ) အ-၂။ စ-၂၈၂။ အအ(၂၀)။

(၁) အစ္စလာမ်သာသနာတော်နှင့်အညီ လိုက်နာကျင့်သုံးရန် တာဝန်မှာ သာမန်မွတ်စ်လင်မ်များ၌ ရှိသကဲ့သို့ နဗီတမန်တော်များ၌လည်း ရှိပေသည်။ နဗီတမန်တော်များသည် အစ္စလာမ်သာသနာတော်နှင့်အညီ လိုက်နာကျင့်သုံးရာတွင် ချွင်းချက်ထားခြင်း မခံကြရသည်သာမက၊ အမိန့်တော်နှင့်အညီ လိုက်နာကျင့်သုံးရန် အမိန့်တော်ထားခြင်းကို ဦးစွာပဌမ ခံကြရပေသည်။ အဘယ်ကြောင့်ဆိုသော် နဗီတမန်တော်များသည် မိမိတို့၏ 'အွန်မ္မက်' နောက်လိုက်တပည့်သားတို့၏ အကြီးအကဲဥက္ကဌ စံပြရှေ့ဆောင်များဖြစ်ကြပေရာ အမိန့်တော်ကို လိုက်နာကျင့်သုံးရာတွင်လည်း ရှေ့ဆောင်ပီပီ ရှေ့ဆုံးမှပင် နေကြရပေမည်။

قُلْ إِنِّيٓ أَخَافُ إِنْ عَصَيْتُ رَبِّي عَذَابَ يَوْمٍ عَظِيمٍ ⑮

၁၅။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား) အချင်းတို့ အကျွန်ုပ်သည် မိမိအရှင်မြတ်၏ (မွတ်စ်လင်မ်ဖြစ်ရန်နှင့် ရှစ်ရ်က် တွဲဘက်ယှဉ်ပြိုင်ကိုးကွယ်ခြင်း မပြုရန်) ပညတ်တော်ကို အကယ်၍သာ ဖီဆန်ခဲ့ပါမူ၊ အလွန်ကြီးကျယ်လှသော (ကိယာမတ် ရှင်ပြန်ထမည့်)နေ့၏ ပြစ်ဒဏ် (ခံစားရမည်)ကို ဧကန်စင်စစ် ကြောက်ရွံ့စိုးရိမ်ရပါသည် ဟု ပြောကြားပါလေ။

مَنْ يُصْرَفْ عَنْهُ يَوْمَئِذٍ فَقَدْ رَحِمَهُ ۚ وَذَٰلِكَ الْفَوْزُ الْمُبِينُ ⑯

၁၆။ မည်သူမဆို ၎င်း၏အပေါ်မှ ထို(ကိယာမတ် ရှင်ပြန်မည့်)နေ့တွင် ယင်းအပြစ်ဒဏ်သည် ဖယ်ရှားခြင်းခံရလျှင် မလွဲဧကန် ထိုအရှင်မြတ်သည် ၎င်း၏ အပေါ်ဝယ် အလွန်တရာမျှပင် သနားကြင်နာညှာတာတော်မူပြီး ဖြစ်ချေသည်။ [၁] အမှန်စင်စစ် ဤ(ကဲ့သို့ အပြစ်ဒဏ်ဖယ်ရှားခြင်းနှင့် သနားကြင်နာမှုကို ခံစားရခြင်း)သည်ပင်လျှင် ထင်ရှားစွာသော အောင်မြင်မှုပင်တည်း။

وَإِنْ يَمْسَسْكَ اللَّهُ بِضُرٍّ فَلَا كَاشِفَ لَهُ إِلَّا هُوَ ۖ وَإِنْ يَمْسَسْكَ بِخَيْرٍ

၁၇။ ၎င်းပြင် (အို-လူသား) အကယ်၍သာ အလ္လာဟ် အရှင်မြတ်သည် အသင့်အား (ဤမျက်မှောက် လောကီဘဝ၌ဖြစ်စေ၊ နောင်တမလွန်ဘဝ၌ဖြစ်စေ) ဘေး အန္တရာယ် တစ်စုံတစ်ရာ သင့်စေတော်မူပါလျှင် ထိုအရှင်မြတ်မှတပါး ယင်းဘေးအန္တရာယ်ကို ကင်းဝေး ပပျောက်စေနိုင်သူဟူ၍ တစ်ဦးတစ်ယောက်မျှ မရှိချေ။

(၁) အလ္လာဟ်အရှင်မြတ်၏ "ရိဿွာ" နှစ်မြို့တော်မူခြင်းနှင့် "ဂျန္နတ်" ကို ရရှိရန်ကား အလွန်မြင့်မားသော အဆင့်အတန်းဖြစ်၏။ လူသားတစ်ဦးသည် အကယ်၍ ကိယာမတ်နေ့၏ အပြစ်ဒဏ်မှ ကင်းလွတ်ခွင့် ရရှိခဲ့သည်ရှိသော်၊ ဤသည်ပင် အလွန်ကြီးမားလှသော အောင်မြင်မှုကြီးဖြစ်သည် ဟူ၍ မှတ်ယူရပေမည်။

فَهُوَ عَلٰى كُلِّ شَيْءٍ قَدِيْرٌ ⑰

အကယ်၍ ထိုအရှင်မြတ်သည် အသင်၌ တစ်စုံတစ်ရာ အကျိုးကျေးဇူးကို ဖြစ်ထွန်းစေတော်မူပါလျှင်လည်း (မည်သူမျှ ထိုကျေးဇူးကို ပျက်ပြားစေနိုင်သူဟူ၍ မရှိချေ၊) ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ပြုစွမ်းနိုင်သောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَهُوَ الْقَاهِرُ فَوْقَ عِبَادِهٖ ۗ وَهُوَ الْحَكِيْمُ الْخَبِيْرُ ⑱

၁၈။ ၎င်းပြင် ထိုအရှင်မြတ်သည် မိမိကျွန်များအပေါ်ဝယ် နိုင်နင်းလွှမ်းမိုးတော်မူသော အရှင်မြတ်လည်း ဖြစ်တော်မူပေသည်။ ထိုမှတပါး ထိုအရှင်မြတ်သည် ဉာဏ်အမြော်အမြင်နှင့် အလွန်ပြည့်စုံတော်မူသောအရှင်၊ (သတင်းအလုံးစုံတို့ကို) အကြွင်းမဲ့ ကြားသိတော်မူသောအရှင်မြတ်လည်း ဖြစ်တော်မူပေသတည်း။ ၁

قُلْ اَيُّ شَيْءٍ اَكْبَرُ شَهَادَةً ۗ قُلِ اللّٰهُ ۙ شَهِيْدٌۢ بَيْنِيْ وَبَيْنَكُمْ ۙ وَاُوْحِيَ اِلَيَّ هٰذَا الْقُرْاٰنُ لِاُنْذِرَكُمْ بِهٖ وَمَنْۢ بَلَغَ ۗ اَئِنَّكُمْ

၁၉။ (အို–နဗီတမန်တော်) အသင်သည် (ထိုသူတို့အား) အချင်းတို့၊ သက်သေခံရာ၌ မည်သည့်အရာသည် အကြီးဆုံးဖြစ်ပါသနည်း၊ (တနည်း) မည်သူ၏သက်သေခံခြင်းသည် အကြီးကျယ်ဆုံး ဖြစ်ပါသနည်းဟုမေးမြန်းပါလေ။ (တဖန်)အသင်ကပင် (ယင်းသူတို့အား ဤသို့) ပြောကြားပါလေ။ "အလ္လာဟ်အရှင်မြတ်သည်ပင် ကျွန်ုပ်နှင့် အသင်တို့၏ စပ်ကြားတွင် သက်သေ ဖြစ်တော်မူပါသည်။

---

① ဤ "အာယသ်" မုက္ခပါဌ်တော်တွင် အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များအနက် ဂုဏ်တော်သုံးပါးကို မိန့်ဆိုထားတော်မူသည်။ (၁) အကြွင်းမဲ့ သိတော်မူသော အရှင်။ (၂) နိုင်နင်းလွှမ်းမိုးတော်မူသော အရှင်။ (၃) အမြော်အမြင်နှင့် ပြည့်စုံတော်မူသော အရှင်။ သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်သည် ပဌမ ဂုဏ်တော်နှင့်အညီ၊ အားလုံးသော သတ္တဝါတို့၏ အကြောင်းကိုသိတော်မူ၏။ ဒုတိယဂုဏ်တော်နှင့်အညီ၊ အားလုံးသောသတ္တဝါတို့ကို စုရုံးစေတော်မူမည်ဖြစ်၏။ တတိယဂုဏ်တော်နှင့်အညီ၊ လျော်ကန်သင့်မြတ်စွာ အကျိုးအပြစ်များကို စီရင်တော်မူမည်ဖြစ်၏။ သို့အတွက်ကြောင့် "အစ္စလာမ်" သာသနာကို လက်ခံနာယူခြင်းသည် အဘယ်မျှ အရေးကြီးသည်ကို တွေးဆ ဆင်ခြင်သိမြင်နိုင်လေသည်။

لَتَشۡهَدُونَ أَنَّ مَعَ ٱللَّهِ
ءَالِهَةً أُخۡرَىٰۚ قُل لَّآ أَشۡهَدُۚ
قُلۡ إِنَّمَا هُوَ إِلَٰهٌ وَٰحِدٌ وَإِنَّنِي
بَرِيٓءٌ مِّمَّا تُشۡرِكُونَ ١٩

စင်စစ် (ထိုအရှင်မြတ်၏ သက်သေခံခြင်းမှာ) ကျွန်ုပ်၏ထံဝယ် ဤ ကုရ်အာန်ကျမ်းတော်မြတ်သည် (အလ္လာဟ်အရှင်မြတ်ထံတော်မှ) 'ဝဟ်ယ်' အမိန့်တော်အဖြစ် ပို့သခဲ့ခြင်းပင် ဖြစ်ပေသည်။ (တနည်း) ထိုကုရ်အာန်ကျမ်းမြတ်ဖြင့် အသင်တို့အားငှင်း၊ ထိုကုရ်အာန်ကျမ်းမြတ် ရောက်ရှိသောသူတို့အားငှင်း၊ ကျွန်ုပ် သတိပေး နှိုးဆော်ရန်အတွက် ဖြစ်သည်။ သို့မှာသာလျှင် ကျွန်ုပ်သည် ယင်းကုရ်အာန်ကျမ်းတော်မြတ်ဖြင့် အသင်တို့အားငှင်း၊ ကုရ်အာန်ကျမ်းတော်မြတ် ရောက်ရှိသောသူတို့အားငှင်း၊ သတိပေး နှိုးဆော်နိုင်မည် ဖြစ်ချေသည်။

(ထိုကဲ့သို့ အလ္လာဟ်အရှင်မြတ်၏ သက်သေခံချက် ရောက်ရှိပြီးဖြစ်သော်လည်း) အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်အတူ အခြားကိုးကွယ်ရာများလည်း (တွဲဘက်လျက်) ရှိကြသေးသည် ဟု သက်သေခံကြမည်လော။

(အကယ်၍ ၎င်းတို့က ဤအတိုင်း သက်သေခံကြပါလျှင်) အသင်သည် (၎င်းတို့အား) ကျွန်ုပ်သည် (ယင်းကဲ့သို့) အလျှင်း သက်သေခံမည်မဟုတ်ဟုပြောကြားပါလေ။ ထို့မှတပါး အသင်သည် (ယင်းသူတို့အား) အချင်းတို့ ထို(အလ္လာဟ်)အရှင်မြတ်သည် တဆူတည်းသော အရှင်မြတ်ပင် ဖြစ်တော်မူပေသည် ဟူ၍ငှင်း၊ ကျွန်ုပ်သည် မုချဧကန် အသင်တို့ ပြုကြကုန်သော တွဲဘက်ကိုးကွယ်ခြင်းမှ ကင်းလွတ်သူ ဖြစ်ပေသည် ဟူ၍ငှင်း၊ ပြောကြားပါလေ။

الَّذِيْنَ اٰتَيْنٰهُمُ الْكِتٰبَ يَعْرِفُوْنَهٗ كَمَا يَعْرِفُوْنَ اَبْنَآءَهُمْ ۘ اَلَّذِيْنَ خَسِرُوْٓا اَنْفُسَهُمْ فَهُمْ لَا يُؤْمِنُوْنَ ﴿٢٠﴾

၂၀။ အကြင်သူတို့သည် ငါအရှင်မြတ်က ၎င်းတို့အား ကျမ်းဂန်ဒေသနာတော်ကို ချီးမြှင့် ပေးသနားတော်မူခဲ့၏။ ထိုသူတို့သည် မိမိတို့၏ သားများကို မှတ်မိကြသကဲ့သို့ပင်၊ ထို(နဗီတမန်တော်မြတ်)အားလည်း မှတ်မိကြကုန်သည်။ (သို့ရာတွင်) မိမိတို့ကိုယ်ကို မိမိတို့ပင် ကျိုးယုတ်နစ်နာအောင် ပြုလုပ်သောသူတို့မူကား အလျင်း သက်ဝင်ယုံကြည်ကြသည် မဟုတ်ပေ။

وَمَنْ اَظْلَمُ مِمَّنِ افْتَرٰى عَلَى اللّٰهِ كَذِبًا اَوْ كَذَّبَ بِاٰيٰتِهٖ ۗ اِنَّهٗ لَا يُفْلِحُ الظّٰلِمُوْنَ ﴿٢١﴾

၂၁။ အမှန်စင်စစ်မည်သူမဆို မဟုတ်မမှန် မုသားကို အလ္လာဟ်အရှင်မြတ်အပေါ်၌ ကြံစည်လီဆယ်၍ စွပ်စွဲအံ့။ သို့တည်းမဟုတ် ထိုအရှင်မြတ်၏ သက်သေလက္ခဏာများကို မဟုတ်မမှန်ဟု ငြင်းပယ်အံ့၊ ထိုသူထက်ပို၍ မတရားသောသူကား မည်သူရှိအံ့နည်း။ ⁽¹⁾ အမှန်စင်စစ်သော်ကား (ထိုကဲ့သို့သော) မတရားသော သူတို့သည် (မည်သည့်အခါမျှ) အောင်မြင်ကြမည် မဟုတ်ပေ။

وَيَوْمَ نَحْشُرُهُمْ جَمِيْعًا ثُمَّ نَقُوْلُ لِلَّذِيْنَ اَشْرَكُوْٓا اَيْنَ شُرَكَآؤُكُمُ الَّذِيْنَ كُنْتُمْ تَزْعُمُوْنَ ﴿٢٢﴾

၂၂။ ၎င်းပြင် အကြင်နေ့ကိုလည်း သတိရသင့်၏။ ထိုနေ့တွင် ငါအရှင်မြတ်သည် ယင်းသူတို့အားလုံးကို စုရုံးစေတော်မူပြီးနောက် (တစုံတရာကို ငါအရှင်မြတ်နှင့်) တွဲဘက်ကိုးကွယ်ခဲ့ကြသော သူတို့အား အသင်တို့သည် (ငါအရှင်မြတ်၏တွဲဘက်များ ဖြစ်ကြသည်ဟူ၍)ထင်မြင်ယူဆ(ကိုးကွယ်)ခဲ့ကြသော အသင်တို့၏ အပေါင်းအဖော် (တွဲဘက်ကိုးကွယ်ရာ)များသည် အဘယ်နည်းဟု မေးမြန်းတော်မူအံ့။

⑴ အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ မုသားစွပ်စွဲပြောဆိုခြင်းတွင် ဥပမာ-ထိုအရှင်မြတ်၌ သားသမီးရှိသည်ဟု ပြောဆိုခြင်း၊ သို့မဟုတ် ထိုအရှင်မြတ်၌ ဂုဏ်ရည်တူ ရှိသည်ဟု ပြောဆိုခြင်း၊ သို့မဟုတ် ထိုအရှင်မြတ်မှတပါး အခြားတဦးတယောက်ထံ၌ ဆုမွန်တောင်းခြင်း၊ သို့မဟုတ် ထိုအရှင်မြတ်နှင့်တွဲဘက်၍ အခြား ➤➤

ثُمَّ لَمْ تَكُنْ فِتْنَتُهُمْ إِلَّا أَنْ قَالُوا وَاللَّهِ رَبِّنَا مَا كُنَّا مُشْرِكِينَ ﴿٢٣﴾

၂၃။ ထို့နောက် ၎င်းတို့က "ကျွန်တော်မျိုးတို့(သည် မိမိတို့)၏အရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်ကို တိုင်တည်ကျိန်ဆို၍ ကျွန်တော်မျိုးသည် (တစုံတရာကို အလ္လာဟ် အရှင်မြတ်နှင့်)တွဲဘက်၍ ကိုးကွယ်သူများမဖြစ်ခဲ့ကြပါ" ဟု ပြောဆိုကြသည်မှအပ၊ ၎င်းတို့၌ မည်သည့်ဆင်ခြေလဲခြင်းမျှ ရှိနိုင်မည် မဟုတ်ပေ။

انْظُرْ كَيْفَ كَذَبُوا عَلَىٰ أَنْفُسِهِمْ وَضَلَّ عَنْهُمْ مَا كَانُوا يَفْتَرُونَ ﴿٢٤﴾

၂၄။ (အို-နဗီတမန်တော်) ထိုသူတို့သည် မိမိတို့နှင့် ဆန့်ကျင်၍ပင် မည်ကဲ့သို့ မုသားပြောဆိုကြသည် ကိုငင်း၊ယင်းသူတို့ထံမှ ယင်းသူတို့၏အကြံအစည်များသည်၊ မဟုတ်မလျား စွပ်စွဲပြစ်မှားလေ့ရှိခဲ့ကြသော အရာများသည် (မည်ကဲ့သို့) ပျက်ပြား ဆုံးပါး၍ သွားသည်ကိုငင်း၊ အသင်သည် (စဉ်းစားဆင်ခြင်၍) ကြည့်ပါလေ။

**တနည်း။**

(အို-နဗီ) အသင်ကြည့်ပါ။ ထိုသူများသည် မိမိတို့နှင့် ဆန့်ကျင်၍ မည်ကဲ့သို့ မုသား ပြောဆိုကြသနည်း၊ ၎င်းပြင် ထိုသူတို့ မဟုတ်မလျား စွပ်စွဲပြစ်မှားလေ့ရှိခဲ့ကြသောအရာများသည် ၎င်းတို့ထံမှ ပျောက်ကွယ်သွားကြချေပြီ။

---

➤➤ တဦးတယောက်ထံ၌ ဆုမွန်တောင်းခြင်း၊ မိမိအား "ရှဖာအတ်" ပြုပေမည်ဟူသောအထင်ဖြင့် "ဝလီ" တပါးထံ ချဉ်းကပ်ခြင်း၊ ကိုးကွယ်ခြင်း၊ ထိုအရှင်မြတ်၏ "ဒီန်" သာသနာတွင် မိမိသဘောဖြင့်ဖြည့်စွက်ခြင်း၊ နှုတ်ပယ်ခြင်း၊ စသည်တို့သည် အားလုံး အကျုံးဝင်ပေသည်။

ထိုအရှင်မြတ်၏ "အာယာတ်" ဟူသောပုဒ်တွင်၊ ကုရ်အာန်ကျမ်းမြတ်ကဲ့သို့ ကောင်းကင်ကျ ကျမ်းဂန်၏ "အာယာတ်" မုဇ္ဇပါဠ်တော်များကိုလည်းဆိုနိုင်သည်။ "တောင်ဟီဒ်" အလ္လာဟ်အရှင်မြတ် တပါးတည်း ရှိတော်မူကြောင်းနှင့် စပ်လျဉ်းသော သဘာဝသက်သေ လက္ခဏာတော်များကိုလည်း ဆိုနိုင်သည်။ နဗီတမန်တော်များ၏ "မုအ်ဂျိဇဟ်" တန်ခိုးပြဒ္ဓိဟာများကိုလည်းဆိုနိုင်သည်။

အလ်မနာရ်၊ အ-၇၊ စ-(၁၄၃-၁၄၄)

وَمِنْهُمْ مَّنْ يَّسْتَمِعُ اِلَيْكَ ۚ وَجَعَلْنَا عَلٰى قُلُوْبِهِمْ اَكِنَّةً اَنْ يَّفْقَهُوْهُ وَفِيْٓ اٰذَانِهِمْ وَقْرًا ۗ وَاِنْ يَّرَوْا كُلَّ اٰيَةٍ لَّا يُؤْمِنُوْا بِهَا ۗ حَتّٰٓى اِذَا جَاۤءُوْكَ يُجَادِلُوْنَكَ يَقُوْلُ الَّذِيْنَ كَفَرُوْٓا اِنْ هٰذَآ اِلَّآ اَسَاطِيْرُ الْاَوَّلِيْنَ ﴿٢٥﴾

၂၅။ ၎င်းပြင် ထိုသူတို့တွင် *အသင့်ဘက်သို့ နားစွင့်၍ နေကြသူများလည်း ရှိကြ၏။* [၁] အမှန်သော်ကား ၎င်းတို့ ထိုကုရ်အာန်ကို နားမလည်နိုင်ကြရန်၊ ငါ အရှင်မြတ်သည် ထိုသူတို့၏စိတ်နှလုံးများပေါ်၌ အကာအဆီးများ ချထားတော်မူခဲ့၏။ ယင်းသူတို့၏ နားများတွင် လေးလံခြင်းကိုလည်းပြုထားတော်မူခဲ့၏။

စင်စစ်တမူကား ယင်းသူတို့သည် သက်သေလက္ခဏာများအားလုံးကို တခုမကျန် တွေ့မြင်ကြရသော်လည်း ထိုသက်သေလက္ခဏာများကို ယုံကြည်ကြမည်မဟုတ်ပေ။

ဤမျှတိုင် ၎င်းတို့သည် အသင့်ထံသို့ပင် လာရောက်ကြသောအခါ အသင်နှင့် အငြင်းအခုံပြုကြ၏။ ကာဖိရ် မယုံမကြည် သွေဖည်ငြင်းပယ်သောသူတို့က "ဤကား ရှေးသူဟောင်းတို့၏ ဒဏ္ဍာရီပုံပြင်များသာ ဖြစ်ချေသည်"ဟု ပြောဆိုကြ၏။ [၂]

وَهُمْ يَنْهَوْنَ عَنْهُ وَيَنْـَٔوْنَ عَنْهُ ۚ وَاِنْ يُّهْلِكُوْنَ اِلَّآ اَنْفُسَهُمْ وَمَا يَشْعُرُوْنَ ﴿٢٦﴾

၂၆။ ၎င်းပြင် ယင်းသူတို့သည် (သူတပါးတို့ကိုလည်း) ထိုကုရ်အာန်ကျမ်းတော်မြတ်(ကို နားဆင်ခြင်း)မှ တားမြစ်ကြကုန်၏။ မိမိတို့ကိုယ်တိုင်လည်း ယင်းကုရ်အာန်ကျမ်းမြတ်(ကိုနားဆင်ခြင်း)မှ (ဝေးစွာ) ကြဉ်ရှောင်ကြကုန်၏။ စင်စစ်သော်ကား ထိုသူတို့သည် မိမိတို့ကိုယ်သာ ပျက်စီးကုန်၏။ သို့ရာတွင် ၎င်းတို့သည် (ဤမျှပင်) မသိတတ်ကြချေ။ [၃]

(၁) အချို့မုရှ်ရစ်ကင်များသည် အပြစ်ရှာလိုသော သဘောဖြင့် ကုရ်အာန်ကျမ်းမြတ်နှင့် တမန်တော်မြတ်၏ ဩဝါဒများကို လာရောက်နားထောင်ကြ၏။ သို့ရာတွင် ၎င်းတို့သည် ယင်းသို့နားထောင်ခြင်းဖြင့် အမှန်တရားကို လက်ခံရန် ရည်ရွယ်ကြသည်မဟုတ်ပေ။

(၂) ဤမုကဒ္ဒပါဌ်တော်တွင် ကာဖိရ်များသည် "ကုဖ်ရ်" သွေဖည်ငြင်းဆိုမှုနှင့် မနာလိုမုန်းထားမှုတွင် အဘယ်မျှ လွန်ကျူးလျက်ရှိကြသည်ကို ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။ ကာဖိရ်များသည် တမန်တော်မြတ် ➢➢

وَلَوْ تَرٰٓى اِذْ وُقِفُوْا عَلَى النَّارِ فَقَالُوْا يٰلَيْتَنَا نُرَدُّ وَلَا نُكَذِّبَ بِاٰيٰتِ رَبِّنَا وَنَكُوْنَ مِنَ الْمُؤْمِنِيْنَ ﴿٢٧﴾

၂၇။ ထိုပြင်တဝ(အို-နဗီတမန်တော်) အကြင်အခါဝယ်၊ ၎င်းတို့သည် ငရဲဘုံ(အဝ)တွင် ရပ်စေခြင်းကို ခံရ၍ "သြော် ငါတို့သည် (လူ့ပြည်လောကသို့) ပြန်လွှတ်ခြင်းကိုခံရကြသော် ကောင်းလေစွတကား။ (အကယ်၍သာ ပြန်သွားရလျှင်) ငါတို့သည် မိမိတို့ အရှင်မြတ်၏သက်သေလက္ခဏာတော်များကို မဟုတ်မမှန်ဟု ငြင်းပယ်ခြင်းမပြုကြဘဲ၊ ငါတို့သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့တွင် အပါအဝင်ဖြစ်ပေမည်"ဟုပြောဆိုကြလတ္တံ့။ အကယ်၍ အသင်သည် ထိုအဖြစ်ကိုကြည့်ရပါသော် (အလွန်ကြောက်မက်ဖွယ်ကောင်းသောမြင်ကွင်းကိုတွေ့မြင်ရပေအံ့)။ ၁

➤➤ မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံသို့ပင်လျှင် အငြင်းအခုံပြုရန် လာရောက်ခဲ့ကြ၏။ အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ်တော်မူသော အမှန်ကန်ဆုံးဖြစ်သော ကုရ်အာန်ကျမ်းဂန်လာ တရားဒေသနာတော်များကိုပင်လျှင် "ဤသည် ရှေးလူဟောင်းတို့၏ ပုံပြင်ဒဏ္ဍာရီများသာဖြစ်သည်" ဟု ယုတ်မာမိုက်ကန်းစွာဆိုခဲ့ကြ၏။ ဤကား မဟုတ်မမှန်ပြောဆိုရာတွင် အဆုံးစွန်းပင်ဖြစ်၏။ (မာဂျိဒီ) အ-၂၊ စ-၂၈၃၊ အအ-၃၉၊

② မုရှ်ရစ်က်တို့တွင် အသိဉာဏ်လည်းမရှိ၊ တရားမျှတမှုလည်းမရှိ၊ ၎င်းတို့သည် တရားဒေသနာတော်၏ အကျိုးကို ခံစားလိုကြသည်လည်း မဟုတ်။ ၎င်းတို့သည် တမန်တော်မြတ်ထံသို့ လာရောက်ကြသည်မှာလည်း တရားနာယူရန်မဟုတ်၊ အကြောင်းမဲ့ အငြင်းအခုံပြုလုပ်ရန်အတွက် လာရောက်ခြင်းသာဖြစ်သည်။ ၎င်းတို့က ဤကုရ်အာန်သည် ရှေးလူဟောင်းတို့၏ ပုံပြင်ဒဏ္ဍာရီများသာ ဖြစ်သည်ဟူ၍ ဆိုကြသည်။ ဤမျှမကသေး ၎င်းတို့သည် ကုရ်အာန်ကျမ်းမြတ်ကို ကြားနာခြင်းမှ သူတပါးတို့ကိုလည်း တားဆီးကြသည်။ မိမိတို့ကိုယ်တိုင်လည်း၊ ဝေးစွာကြဉ်ကြသည်။ မုရှ်ရစ်က်တို့သည် ယင်းကဲ့သို့ ကြိုးပမ်းခဲ့ခြင်းအားဖြင့်၊ အစ္စလာမ်သာသနာကိုသော်၎င်း၊ တမန်တော်မြတ်ကိုသော်၎င်း၊ တစ်စုံတစ်ရာ နစ်နာဆုံးရှုံးအောင် ပြုနိုင်ခဲ့ကြသည်မဟုတ်ပေ။ အစ္စလာမ်သာသနာနှင့် တမန်တော်မြတ်၏ ဂုဏ်သတင်းကား ပျံ့နှံ့လျက်ရှိခဲ့၏။ ယခုလည်း ပျံ့နှံ့လျက်ပင်ရှိ၏။ ကိယာမတ်နေ့တိုင် ပျံ့နှံ့လျက်ပင် ရှိမည်ဖြစ်၏။ ၎င်း မုရှ်ရစ်က်တို့သာလျှင် မိမိတို့၏ မိုက်မှားမှုကြောင့် မိမိတို့ကိုယ်တိုင် နှစ်ဘဝလုံးတွင် ဆုံးရှုံးနစ်နာအောင် ဖန်တီးနေကြခြင်းဖြစ်၏။ သို့ရာတွင် ၎င်းတို့သည် ဤသည်ကိုလည်း မသိကြချေ။

① မုရှ်ရစ်က်တို့၏ မောက်မာပလွှား ဝါကြွားခြင်းမှာ အလ္လာဟ်အရှင်မြတ်၏ ကြောက်မက်ဖွယ်ကောင်းလှသော အပြစ်ဒဏ်ကို မမြင်ရသေးသည့်အတွင်းသာလျှင် ဖြစ်သည်။ ထိုအရှင်မြတ်၏ အပြစ်ဒဏ်ကို အနည်းငယ်မျှပင် ခံစားလိုက်ရသည်ရှိသော်၊ ၎င်းတို့၏ မောက်မာပလွှား ဝါကြွားမှုအားလုံးတို့သည် ပျောက်ခြင်းကြီးမလှ ပျောက်ကွယ်သွားပေမည်။ ၎င်းပြင် ထိုမုရှ်ရစ်က်တို့က "ကျွန်တော်မျိုးတို့သည် လူ့လောကကို ပြန်သွားကြရပါလျှင်၊ မိမိတို့အရှင်သခင်၏ အမိန့်တော်များကို မငြင်းပယ်ကြပါလျှင်၊ မုအ်မင်များ ဖြစ်ကြရပါလျှင်၊ ➤➤

တနည်း။

ၚင်းပြင် (အို-နဗီ) အကြင်အခါဝယ် (ထိုမုရှ်ရစ်က်တို့ကို) အသင်ကြည့်သော်၊ (အလွန်ကြောက်မက်ဘွယ်ကောင်းသော အဖြစ်ကိုတွေ့မြင်ရမည်၊) ထိုမုရှ်ရစ်က်တို့သည် ငရဲဘုံအနီးတွင်(စောကြောမေးမြန်းရန်အတွက်) ရပ်တန့်စေခြင်းကို ခံကြရသည်ရှိသော်၊ (ထိုသူတို့သည် ကြောက်မက်ဘွယ်ကောင်းလှသောအဖြစ်ကို တွေ့မြင်ကြသည်။ ထိုပြစ်ဒဏ်သည် အမှန်တရားကို သွေဖည်ခြင်း၊ ငြင်းပယ်ခြင်း၏အပြစ်ဖြစ်သည်ကိုၚင်း၊ သိမြင်ကြမည်။ ထိုအခါ) ထိုသူများက "ကျွန်ုပ်တို့သည် (လူ့လောကသို့) ပြန်သွားရပါလျှင် ကောင်းလေစွ၊ သို့သွားရပါလျှင်၊ ကျွန်ုပ်တို့သည် မိမိတို့၏အရှင်သခင်၏ သက်သေလက္ခဏာတော်များကို မုသားဟူ၍ ပြောဆိုကြမည် မဟုတ်ပါ။ ၚင်းပြင် ကျွန်ုပ်တို့သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သောသူများတွင် အပါအဝင် ဖြစ်ကြပါမည်" ဟု ပြောဆို (တမ်းတ)ကြမည်။

بَلْ بَدَا لَهُم مَّا كَانُوا يُخْفُونَ مِن قَبْلُ ۖ وَلَوْ رُدُّوا لَعَادُوا لِمَا نُهُوا

၂၈။ (သို့ရာတွင် ၚင်းတို့သည် အကယ်စင်စစ်မှန်ကန်သော ရည်ရွယ်ချက်နှင့် ဤသို့ ပြောဆိုကြသည်) အလျင်းမဟုတ်ပေ။ စင်စစ်မှာကား ထိုသူတို့သည် ယခင်မှုလက မိမိတို့ထိမ်ချန် လျှို့ဝှက်ထားရှိသမျှတို့(၏ အကျိုးအပြစ်များ)သည် ပေါ်လာသည်(ဖြစ်၍ ထိုအပြစ်များမှ လွတ်မြောက်ရုံကာမျှ ပြောဆိုခြင်းသာ ဖြစ်ချေသည်။) ၁

➤➤ ကောင်းလေစွ" ဟု အကြီးအကျယ် တမ်းတကြပေမည်။ သို့ရာတွင် "လူမိုက်နောက်မှအကြံရ" ဆိုဘိသကဲ့သို့ အချိန်လွန်ပြီးမှ နောင်တရခြင်းကား အကျိုးရှိမည်မဟုတ်ပေ။

(၁) နောင်တမလွန်ဘဝတွင် အကုသိုလ်များ၏ အကျိုးများကို ခံစားကြရမည့်အကြောင်း သက်သေသာဓကအထင်အရှားဖြစ်ပါလျက် မုရှ်ရစ်က်တို့သည် ဖုံးကွယ်ငြင်းဆိုခဲ့ကြ၏။ ယခုမူ ၚင်းတို့သည် အလ္လာဟ် ➤➤

عَنْهُ وَإِنَّهُمْ لَكَٰذِبُونَ ۝٢٨

၎င်းတို့သည် အကယ်၍သာ (လူ့ပြည်လောကသို့) ပြန်လွှတ်ခြင်းခံကြရပါလျှင်၊ မုချဧကန် ထိုသူတို့သည် မိမိတို့တားမြစ်ခြင်းခံကြရသော အမှုကိစ္စများကို ထပ်မံ၍ပင် ပြုကြလတ္တံ့။ ထိုသူတို့သည် ဧကန်စင်စစ် မုသားပြောဆိုသူများသာ ဖြစ်ကြကုန်သတည်း။

**တနည်း။**

(ထိုမုရှ်ရစ်က်တို့က ထိုကဲ့သို့ ပြောဆိုခြင်းမှာ စိတ်စေတနာဖြူစင်စွာဖြင့် ပြောဆိုခြင်း)မဟုတ်၊ သို့ရာတွင် အလျင်က (လူ့လောကတွင်) ၎င်းတို့ ထိမ်ချန် လျှို့ဝှက်ခဲ့ကြသော အရာသည် အထင်အရှား ပေါ်လွင် လာချေပြီ(ဖြစ်၍ ယင်းကဲ့သို့ ပြောဆိုကြခြင်းသာဖြစ်သည်)။

အကယ်တန္တု ၎င်းတို့သည် (လူ့လောကသို့) ပြန်လွှတ်ခြင်းခံရပါလျှင် ၎င်းတို့အား တားမြစ်ထားသော အရာများကို မုချပြန်လည် ကျူးလွန်ကြမည်ပင်ဖြစ်သည်။ အမှန်မှာ ထိုသူများသည် မုသားပြောဆိုသောသူများ ဖြစ်ကြပေသည်။

---

➤➤ အရှင်မြတ်၏အပြစ်ဒဏ်ကို မိမိတို့၏ မျက်စိများဖြင့် တပ်အပ်သေချာ တွေ့မြင်ကြရလေပြီ။ ၎င်းတို့ လျှို့ဝှက်စွာ ပြုကျင့်ခဲ့ကြသော ယုတ်မာမှု၊ ဆိုးသွမ်းမှု အားလုံးတို့သည်လည်း အထင်အရှား ဖြစ်လာချေပြီ။ မကြာသေးမီအတွင်းကပင် ၎င်းတို့က "ကျွန်တော်မျိုးတို့အား မွေးမြူတော်မူသောအလ္လာဟ်အရှင်မြတ်၏ ကစမ်၊ ကျွန်တော်မျိုးတို့သည် မုရှ်ရစ်က်များ မဟုတ်ခဲ့ကြပါ" ဟု လိမ်လည်၍ ပြောဆိုခဲ့ကြသေး၏။ ဤလိမ်လည်မှုသည်လည်း ဘွင်းဘွင်းပေါ်ချေပြီ။

ဆိုလိုရင်းသဘောကား၊ မုရှ်ရစ်က်တို့ ပြုကျင့်ခဲ့ကြသည့် မတွေ့မမြင်ရသော အကုသိုလ်များ၏ အကျိုးများသည် ယခုမှု ကြောက်မက်ဖွယ်ရာ ကောင်းလှသော အပြစ်ဒဏ်ကြီး၏ သဏ္ဌာန်ဖြင့် ပေါ်လာချေပြီ။ မုရှ်ရစ်က်တို့က၊ လူ့လောကသို့ ပြန်သွားလိုကြောင်း ပြောဆိုခြင်းမှာ ထိုအပြစ်ဒဏ်မှ လွတ်မြောက်ရန်အတွက်သာလျှင် ပြောဆိုခြင်းဖြစ်သည်။ စိတ်စေတနာဖြူစင်စွာဖြင့် ပြောဆိုကြခြင်း မဟုတ်ပေ။

وَقَالُوٓا إِنْ هِيَ إِلَّا حَيَاتُنَا الدُّنْيَا وَمَا نَحْنُ بِمَبْعُوثِينَ ﴿٢٩﴾

၂၉။ ၎င်းပြင် ထိုသူတို့က "အသက်ရှင်ခြင်းကား ပစ္စက္ခမျက်မှောက်လောကီဘဝ၌ ငါတို့၏ရှင်ခြင်းသာ ဖြစ်သည်။ အမှန်သော်ကား ငါတို့သည် ရှင်ပြန်ထစေခြင်း ခံကြရမည်မဟုတ်ချေ" ဟုပြောဆိုကြသည်။

**တနည်း။**

၎င်းပြင် ထိုသူတို့က အသက်ရှင်ခြင်းသည် ဤပစ္စက္ခမျက်မှောက်လောကီတွင် ကျွန်ုပ်တို့၏ ရှင်ခြင်းမှတပါး အခြား အဘယ်မျှမရှိ။ ၎င်းပြင် ကျွန်ုပ်တို့သည် (ဤရှင်ခြင်းကုန်ဆုံးပြီးသည့်နောက်) ပြန်လည်ရှင်ထစေခြင်းကို ခံကြရမည့်သူများလည်း မဟုတ်ပေဟု ဆိုကြသည်။

وَلَوْ تَرَىٰٓ إِذْ وُقِفُوا عَلَىٰ رَبِّهِمْ قَالَ أَلَيْسَ هَٰذَا بِالْحَقِّ قَالُوا بَلَىٰ وَرَبِّنَا قَالَ فَذُوقُوا الْعَذَابَ بِمَا كُنتُمْ تَكْفُرُونَ ﴿٣٠﴾

၃၀။ (အို-နဗီတမန်တော်)အကယ်၍ အသင်ကြည့်သော် (ကြောက်မက်ဖွယ်အဖြစ်ကို တွေ့မြင်ရမည်) အကြင်အခါဝယ် ၎င်းတို့သည် မိမိတို့၏အရှင်မြတ်၏ ရှေ့တော်မှောက်ဝယ် ရပ်တန့်စေခြင်းကို ခံကြရလတ္တံ့။ ယင်းအခါဝယ် ထိုအရှင်မြတ်သည် (၎င်းတို့အား) "ဤ (ကိယာမတ် ရှင်ပြန်ထမည့်နေ့)သည် အမှန်ပင် မဟုတ်ပါလော" ဟု မေးမြန်းတော်မူအံ့။

ထိုအခါ ၎င်းတို့က "ကျွန်တော်မျိုးတို့အား မွေးမြူတော် မူသော အရှင်မြတ်၏ "ကစမ်" အဟုတ်အမှန် ဖြစ်ပါသည်" ဟု ဖြေကြားလတ္တံ့။ ထိုအခါ အရှင်မြတ်က "သို့ဖြစ်လျှင် အသင်တို့သည် မယုံမကြည် ငြင်းပယ်လေ့ရှိခဲ့ကြသည့်အတွက် ပြစ်ဒဏ်ကို မြည်းစမ်းကြလေကုန်ဟု မိန့်ကြားတော်မူမည်ဖြစ်သည်။

قَدْ خَسِرَ الَّذِينَ كَذَّبُوا بِلِقَاءِ اللَّهِ ۖ حَتَّىٰ إِذَا جَاءَتْهُمُ السَّاعَةُ بَغْتَةً قَالُوا يَا حَسْرَتَنَا عَلَىٰ مَا فَرَّطْنَا فِيهَا وَهُمْ يَحْمِلُونَ أَوْزَارَهُمْ عَلَىٰ ظُهُورِهِمْ ۚ أَلَا سَاءَ مَا يَزِرُونَ ﴿٣١﴾

၃၁။ အလ္လာဟ်အရှင်မြတ်နှင့် တွေ့ဆုံကြမည်ကို မဟုတ်မမှန်ဟု ပြောဆိုကြကုန်သော သူတို့သည် ဧကန်စင်စစ် ဆုံးရှုံးပျက်စီးကြလေပြီ။

(ဤသို့ မဟုတ်မမှန် ပြောဆိုခြင်းသည် ရက်အနည်းငယ်သာ ဖြစ်မည်) နောက်ဆုံးတွင် ၎င်းတို့ထံ ထိုကန့်သတ်ပြီးဖြစ်သော အချိန်ကာလ (ကိယာမတ်ခေါ် ရှင်ပြန်ထမည့်နေ့)သည် ရုတ်တရက် ရှောင်တခင် ရောက်ရှိလာသောအခါ (ထိုသူတို့၏ မဟုတ်မမှန် ပြောဆိုခြင်းသည် ရပ်သွားပေမည်။ ၎င်းပြင်) ထိုသူတို့က "သြော် ငါတို့သည် ဤအချိန်နှင့် စပ်လျဉ်း၍ ပေါ့လျော့ ပျက်ကွက်ခဲ့ကြသည်မှာ ဝမ်းနည်းကြေကွဲဖွယ် ဖြစ်ရလေခြင်း" ဟု ညည်းငြူမြည်တမ်းကြမည်။ ထို့ပြင် ၎င်းတို့သည် (ထိုနေ့တွင်) မိမိတို့(၏ အပြစ်များ)၏ ဝန်ထုပ်များကို မိမိတို့၏ ကျောက်ကုန်းများထက်ဝယ် သည်ပိုးလျှက်ရှိကြမည်။ ၎င်းတို့ သည်ပိုးလျှက်ရှိကြသော အရာများမှာ ဆိုးရွားလှသည်ဟု မှတ်ယူကြလေကုန်။

وَمَا الْحَيَاةُ الدُّنْيَا إِلَّا لَعِبٌ وَلَهْوٌ ۖ وَلَلدَّارُ الْآخِرَةُ خَيْرٌ لِّلَّذِينَ يَتَّقُونَ ۗ أَفَلَا تَعْقِلُونَ ﴿٣٢﴾

၃၂။ စင်စစ်သော်ကား မျက်မှောက်လောကီဘဝ၏ အသက်တာသည် (စိတ်ပြေလက်ပျောက်) ကစားခုန်စားမှုသာဖြစ်၏။ [၁] သို့ရာတွင် နောင်တမလွန်ဘဝ၏ ဘုံဗိမာန်သည်ကား (နောင်တမလွန်ဘဝ၌ရှိသော ဘုံဗိမာန်သည်ကား) ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်သော သူတို့အဘို့ အလွန်ကောင်းပေသည်။ အသင်တို့သည်(ဤမျှပင်) နားမလည်ကြလေသလော။

(၁) ကုရ်အာန်(၆း၂၉)တွင် 'အာခိရက်' နောင်တမလွန်ဘဝကို မယုံကြည်သူများ၏ ပြောဆိုချက်ပါရှိ၏။ ပြီးနောက် တဖန် ကုရ်အာန်(၆း၃၂)တွင် နောင်တမလွန်ဘဝကို မယုံမကြည်သူတို့အား ရည်ညွှန်း၍ ၎င်းတို့၏ ပြောဆိုချက်အရ ဤပစ္စက္ခဘဝသည်သာ အမိအဘ အဓိကဖြစ်သည်။ ဤပစ္စက္ခဘဝသည်သာလျှင် ➤➤

قَدْ نَعْلَمُ إِنَّهُ لَيَحْزُنُكَ الَّذِي يَقُولُونَ فَإِنَّهُمْ لَا يُكَذِّبُونَكَ وَلَٰكِنَّ الظَّالِمِينَ بِآيَاتِ اللَّهِ يَجْحَدُونَ ٣٣

၃၃။ (အို-နဗီတမန်တော်) ၎င်းတို့ပြောဆိုသော စကားသည် ဧကန်စင်စစ် အသင့်အား *စိတ်ဒုက္ခ ရောက်စေသည်ကို ငါအရှင်မြတ်သည် (ကောင်းစွာ) သိတော်မူသည်။*[၁] အမှန်စင်စစ် ယင်းသူတို့သည် အသင့်အား မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြသည် မဟုတ်ချေ။ သို့ရာတွင် မတော်မတရားပြုမူသော သူတို့သည် အလ္လာဟ်အရှင်မြတ်၏ *သက်သေ လက္ခဏာတော်များကိုသာ ငြင်းပယ်နေကြသည်။*[၂]

➤➤ တစ်ခုတည်းသောဘဝ ဖြစ်သည်။ အခြားဘဝမရှိ ဟူသောအချက်ကို မှန်ပါသည်ဟူ၍ကား အသိဉာဏ် အမြော်အမြင်ရှိသူများက ဘယ်သောအခါမျှ အဆုံးအဖြတ်ပေးကြမည် မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် ဤပစ္စက္ခဘဝတွင် အသက်ရှင်ရခြင်းသည် မျက်စိတမှိတ် လျှပ်တပြက်မျှဖြစ်၏။ သခၤါရမျှဖြစ်၏။ လျှင်မြန်စွာ ပျက်စီးသွားမည်ဖြစ်၏။ ပွဲလမ်းသဘင်ကဲ့သို့ ပြီးပြီးပျောက်ပျောက်ဖြစ်၏။ သို့ဖြစ်ရာ ဤမျှ ကြီးကျယ် ခမ်းနားလှသောစကြာဝဠာကြီးသည် ရက်အနည်းငယ် ပျော်မြူးရန်အတွက်သာဖြစ်၍ ထို့နောက် လုံးဝ အပျောက်ကြီး ပျောက်ကွယ်သွားမည်လော။ ဤသို့ကား အလျှင်းမဟုတ်။ ဤပစ္စက္ခဘဝကို ကစားစရာဟူ၍ မိန့်ဆိုထားတော် မူခြင်းမှာ ဤဘဝ၏သတ်တမ်းသည် မျက်စိတမှိတ် လျှပ်တပြက် ဆိုသကဲ့သို့ အလွန်တရာမျှ တိုတောင်း၍ တခဏအတွင်း ကုန်ဆုံးသွားမည် ဖြစ်သည့်အတွက် ဖြစ်သည်။ ပြီးနောက်တဖန် အကယ်၍ ဤပစ္စက္ခဘဝတွင် ပြုကျင့်သမျှသောကုသိုလ်၊ အကုသိုလ်များ၏ ကျိုးပြစ်များကို ခံစားနိုင်ရန်အတွက် အခြားသက်တမ်းမရှိသော် ဤဘဝတွင် ဖြစ်ပျက်သမျှတို့သည် ကစားစရာထက် ထူးကဲမည်မဟုတ်ပေ။ ကစားစရာ အချည်းနှီးသာဖြစ်ပေမည်။

ဤမုက္ခပါဋ္ဌ်တော်တွင် ပစ္စက္ခဘဝကို ကစားစရာ၊ ပွဲလမ်းသဘင်မျှသာ ဖြစ်သည်ဟူ၍ ဆိုလိုသည် မဟုတ်။ ပစ္စက္ခဘဝ၏ အကြင်အပြုအမူ အလုပ်ကိုင်များကိုသာ ကစားစရာဟု ဆိုလိုရင်းဖြစ်သည်။ ထိုအပြုအမူ အလုပ်အကိုင်များသည် နောင်တမလွန်ဘဝအတွက်လည်း မဟုတ်ချေ။ နောင်တမလွန်ဘဝ၏ ကောင်းကျိုးချမ်းသာ အတွက် အကူအညီ အထောက်အမလည်း မဖြစ်ချေ။

ဤသို့အနက်အဓိပ္ပါယ် ကောက်ယူခြင်းဖြင့် ပစ္စက္ခဘဝတွင် တရားတော်နှင့်အညီ လိုက်နာကျင့်သုံးသည့် ခဝပ်ကိုးကွယ်မှုအားလုံးနှင့် ခဝပ်ကိုးကွယ်မှုကို အထောက်အမဖြစ်စေမည့် "မုဗာဟ်" အားလုံးတို့သည် ဤမုက္ခပါဋ္ဌ် တော်တွင် အကျုံးမဝင်ကြောင်း၊ ဒုစရိုက်မှုများနှင့် ဒုစရိုက်မှုများကို အထောက်အမပြုသော အဓိပ္ပါယ်မရှိသော ကိစ္စများသာလျှင် အကျုံးဝင်ကြောင်း ထင်ရှားပေသည်။ (ထာနဝီ) အ-၃၊ စ-၉၁။

(၁) တမန်တော်မြတ်အား၊ ကာဖိရ်များက မဟုတ်မမှန် ပြောဆိုကြသည့်အခါ တမန်တော်မြတ်သည် စိတ်ဒုက္ခ ဖြစ်တော်မူ၏။ ကာဖိရ်များ၏နောင်ရေးကို တွေး၍ဆွေးတော်မူ၏။ ဝမ်းနည်းကြေကွဲတော်မူ၏။ ကြည့် ကုရ်အာန်ကျမ်းမြတ်(၁၈း ၆)(၂၆း ၃)(၃၅း ၈)။ ဤမုက္ခပါဋ္ဌ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား၊ ယင်းသို့ မကြေကွဲရန် နှစ်သိမ့်စေတော်မူထားခြင်းဖြစ်သည်။

(၂) တမန်တော်မြတ်အား အဗူဂျဟ်လ်က ဤသို့ပြောခဲ့ဘူး၏။ ကျွန်ုပ်တို့သည် အသင့်အား မဟုတ်မမှန်ဟု မဆိုကြပါ။ သို့ရာတွင် အသင်ယူဆောင်လာသော တရားကိုသာလျှင် မှားသည်ဟု ဆိုကြပါသည်။(အစ်ဗ်နုကဆီရ်)

وَلَقَدْ كُذِّبَتْ رُسُلٌ مِّن قَبْلِكَ فَصَبَرُوا عَلَىٰ مَا كُذِّبُوا وَأُوذُوا حَتَّىٰ أَتَاهُمْ نَصْرُنَا ۚ وَلَا مُبَدِّلَ لِكَلِمَاتِ اللَّهِ ۚ وَلَقَدْ جَاءَكَ مِن نَّبَإِي الْمُرْسَلِينَ ﴿٣٤﴾

၃၄။ ၎င်းပြင် မချွတ်ဧကန် အသင့်အလျင် မြောက်မြားစွာသော ရစူလ် တမန်တော်များသည် မဟုတ်မမှန်ဟု ငြင်းပယ်ခြင်း ခံခဲ့ကြရလေပြီ။ သို့ရာတွင် ထိုရစူလ် တမန်တော်တို့သည် မိမိတို့အား မဟုတ်မမှန်ဟု ငြင်းပယ်ခြင်းကို ခံခဲ့ကြရခြင်း အပေါ်၌၎င်း၊ ဒုက္ခပေးခြင်းကို ခံခဲ့ကြရခြင်းအပေါ် ၌၎င်း၊ သည်းခံခဲ့ကြလေသည်။ နောက်ဆုံးတွင် ငါ အရှင်မြတ်၏အကူအညီသည် ထိုရစူလ်တမန်တော် များထံသို့ ရောက်ရှိလာခဲ့လေသည်။ အမှန်သော်ကား *အလ္လာဟ်အရှင်မြတ်၏မုက္ခပါဠ်တော်များကို မည်သူမျှ ပြောင်းလဲနိုင်သည်မဟုတ်ချေ။* [၁] စင်စစ်ဧကန် ရစူလ် တမန်တော်တို့၏ အချို့အကြောင်းသတင်းများသည် အသင့်ထံ ရောက်ရှိလာခဲ့ပြီးဖြစ်၏။

وَإِن كَانَ كَبُرَ عَلَيْكَ إِعْرَاضُهُمْ فَإِنِ اسْتَطَعْتَ أَن تَبْتَغِيَ نَفَقًا فِي الْأَرْضِ أَوْ سُلَّمًا فِي السَّمَاءِ فَتَأْتِيَهُم

၃၅။ သို့ရာတွင် (အို-နဗီတမန်တော်) အကယ်၍ ၎င်းတို့၏ လွှဲဖယ်တိမ်းရှောင်သွားခြင်းသည် အသင့် အပေါ်ဝယ် ရင်လေးဖွယ်ဖြစ်နေပါလျှင်၊ အသင်သည် တတ်စွမ်းနိုင်ပါက မြေအောက်တွင် လိုဏ်ခေါင်းတခုခု ကိုဖြစ်စေ၊ မိုးပေါ်သို့ (တက်နိုင်ရန်) လှေကားတခုခု ကိုဖြစ်စေ၊ ရှာဖွေပြီးလျှင် ၎င်းတို့အဘို့ *တန်ခိုးပြာဋိဟာ တရပ်ရပ်ကို ယူဆောင်ခဲ့ပါလေ။* [၂]

---

(၁) အလ္လာဟ်အရှင်မြတ်၏ မုက္ခပါဠ်တော်များဟူသည် ထိုအရှင်မြတ်၏ ကတိတော်များကို ဆိုလိုသည်။ ကျောက်တောင်ကြီးသည် မိမိ၏နေရာမှ ရွေ့မည်ဆိုက ရွေ့သွားနိုင်သော်လည်း အလ္လာဟ်အရှင်မြတ် ၏ကတိတော်ကား အလျင်းရွေ့ပြောင်းသွားမည်မဟုတ်ပေ။ ထိုအရှင်မြတ်သည် မိမိကတိတော်အတိုင်း အတိ အကျ ပြုလုပ်တော် မူသည်သာတည်း။ အလ္လာဟ် အရှင်မြတ်သည် မိမိ၏ရစူလ် တမန်တော်များအား ကူညီ ရိုင်းပင်းတော် မူမည့်အကြောင်း၊ ကုရ်အာန်ကျမ်းမြတ် (၃၇ : ၁၇၁။ ၅၈ : ၂၁)တွင် အတည့်အလင်း မိန့်ဆို ထားတော်မူသည်။

(၂) တမန်တော်မြတ်သည် "ရဟ်မတွန်လစ်လ် အာလမီန်" စကြာဝဠာအဝှန်းအတွက် ကရုဏာရှင် ဖြစ်တော်မူ၏။ သို့အတွက်ကြောင့်ပင် တမန်တော်မြတ်သည် ကာဖိရ်တို့၏နောင်ရေးတွေးကာ ၎င်းတို့အတွက်ကြေကွဲတော်မူ၏။ အစ္စလာမ်သာသနာအတွင်းသို့ မည်သည့်နည်းနှင့်ဖြစ်စေ ကာဖိရ်များရောက်ရှိလာခြင်းကို အထူး ➢➢

بِاٰيَةٍ ۭ وَلَوْ شَاۗءَ اللّٰهُ لَجَمَعَهُمْ
عَلَى الْهُدٰى فَلَا تَكُوْنَنَّ
مِنَ الْجٰهِلِيْنَ ۝٣٥

စင်စစ်သော်ကား အကယ်၍သာ အလ္လာဟ် အရှင်မြတ်သည် အလိုတော်ရှိပါမူ၊ ၎င်းတို့အားလုံးကို *တရားလမ်းမှန်ပေါ်၌ တစည်းတလုံးတည်း တည်ရှိစေတော်မူအံ့။* [၁] သို့ဖြစ်ပေရာအသင်သည် အသိဉာဏ်ကင်းမဲ့သောသူတို့တွင် အပါအဝင်မဖြစ်ပါလေနှင့်။

اِنَّمَا يَسْتَجِيْبُ الَّذِيْنَ يَسْمَعُوْنَ ۭ
وَالْمَوْتٰى يَبْعَثُهُمُ اللّٰهُ
ثُمَّ اِلَيْهِ يُرْجَعُوْنَ ۝٣٦

**၃၆။** (စိတ်စေတနာ ဖြူစင်စွာဖြင့် တရားကို) နားထောင်သောသူများသာလျှင် တရားကို လက်ခံ*နာယူကြပေသည်။* [၂] အမှန်စင်စစ် သူသေတို့မူကား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ရှင်ပြန်ထစေတော်မူမည်။ ထို့နောက် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အထံတော်သို့သာလျှင် ပြန်သွားကြရမည်။

وَقَالُوْا لَوْلَا نُزِّلَ عَلَيْهِ
اٰيَةٌ مِّنْ رَّبِّهٖ ۭ قُلْ اِنَّ اللّٰهَ
قَادِرٌ عَلٰٓي اَنْ يُّنَزِّلَ اٰيَةً

**၃၇။** ၎င်းပြင် ထိုသူတို့က "(အကယ်၍သာ မုဟမ္မဒ်သည် နဗီတမန်တော်ဖြစ်ခဲ့ပါလျှင်) ၎င်း၏အရှင်မြတ်ထံတော်မှ ၎င်းထံသို့ ပြာဋိဟာ တရပ်ရပ်သည် မည်သည့်အတွက်ကြောင့် မကျရောက်ပါသနည်း" ဟု ပြောဆိုကြလေသည်။ [၃]

---

➤➤ လိုလားတော်မူ၏။ အဘယ်မျှလိုလားတော်မူသည်ဆိုသော် တမန်တော်မြတ်၌ တန်ခိုးပြာဋိဟာများကို ပြနိုင်သောစွမ်းရည် ရှိခဲ့ပါလျှင် တမန်တော်မြတ်သည် ယင်းသူတို့တောင်းဆိုသမျှသော တန်ခိုးပြာဋိဟာများကိုပင် ပြသတော်မူရန်အသင့်ပင် ရှိတော်မူလေသည်။

(၁) အကယ်၍ (တာကွီနီ) ခေါ် ဖန်ဆင်းတော်မူခြင်း၏ အကျိုးတရားများအားဖြင့် အရှင်မြတ်သည် လူခပ်သိမ်းတို့အား တရားလမ်းမှန်ကို ပြတော်မူလိုပါလျှင် ထိုလူခပ်သိမ်းတို့သည် အားလုံးတို့ပင် တရားရကြမည်။ ဤသို့ဖြစ်စေတော်မူခြင်းကို မည်သူမျှ တားမြစ်နိုင်သည်လည်း မရှိချေ။ ပြီးနောက် လူ့လောကတွင် ဝါဒကွဲမှု၊ လမ်းစဉ်ကွဲမှု၊ ယုံကြည်ချက်ကွဲမှုများသည်လည်း ရှိတော့မည်မဟုတ်ချေ၊ တန်ခိုးပြာဋိဟာများကို တောင်းဆိုသည့် အကြောင်းလည်း ပေါ်မည်မဟုတ်တော့ချေ။

(၂) အမှန်တရားကို ဆည်းပူးလိုသည့် ဖြူစင်သောစိတ်စေတနာဖြင့် တရားနာသောသူများသာလျှင် နာခံကြပေသည်။ ကာဖိရ်တို့မူကား စိတ်သေနေသောသူသေများနှင့်တူကြပေသည်။ ၎င်းတို့၏စိတ်နှလုံးများသည် မုန်းတီးမှု၊ ဆန့်ကျင်မှု၊ မဖြူစင်မှုများကြောင့် တရားစကားများကို အဘယ်မျှပင် ကြားရလင့်ကစား မည်သို့မျှအရာမထင်ချေ။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ကိယာမတ်နေ့တွင် ပြန်လည်ရှင်ထစေတော်မူ၍ စောကြောမေးမြန်းတော်မူမည်။ ၎င်းတို့သည် မိမိတို့၏သွေဖည်ငြင်းပယ်မှုများ၏ အပြစ်ဒဏ်များကို ခံကြရမည်။ ➤➤

وَّلٰكِنَّ اَكۡثَرَهُمۡ لَا يَعۡلَمُوۡنَ ۝٣٧

(အို-နဗီတမန်တော် အသင်သည် ထိုသူတို့အား ဤသို့) ပြောကြားပါလေ။ မုချကေန် အလ္လာဟ်အရှင်မြတ်သည် (ထိုသူတို့တောင်းဆိုသော)တန်ခိုးပြာဋိဟာကို ချပေးနိုင်စွမ်းရှိတော်မူသောအရှင်မြတ်ဖြစ်တော်မူ၏။ [၁] သို့ရာတွင်ထိုသူတို့အနက်မှ များစွာသောသူတို့သည် (ဤသည်ကိုပင်) မသိကြချေ။ [၂]

➤➤ ၎င်းတို့သည် ပစ္စက္ခဘဝ၌ မိမိတို့၏သွေဖည်ငြင်းပယ်မှုများ၏ အပြစ်ဒဏ်ကို အပြည့်အစုံ မခံခဲ့ကြရသော်လည်း ကိယာမတ်နေ့တွင်ကား အပြည့်အစုံ အတိအကျ ခံကြရပေမည်သာတည်း။(မာရိဖ်)
② တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်အဟုန်ဖြင့် အသိလိမ္မာဉာဏ်ပညာနှင့် သက်ဆိုင်သော၊ လက်တွေ့လုပ်ငန်းနှင့် သက်ဆိုင်သော များစွာသော "မုအ်ဂျိဇဟ်" တန်ခိုးပြာဋိဟာများကို ပြတော်မူခဲ့လေပြီ။ သို့တစေလည်း ကာဖိရ်များသည် မနာလိုမုန်းတီးကြသဖြင့် အကြောင်းမဲ့ တန်ခိုးပြာဋိဟာများကို တောင်းဆိုနေကြသည်။ ယင်းကာဖိရ်များ တန်ခိုးပြာဋိဟာ တောင်းဆိုခဲ့ကြသည့်အကြောင်း ကုရ်အာန်ကျမ်းမြတ် (၁၇း ၉၀-၉၃)တွင် ပါရှိလေသည်။

ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော် (၁၇း ၉၃) ၏ သဘောမှာ အောက်ပါအတိုင်းဖြစ်သည်။

ဆိုလိုသည်မှာ ထိုသူများက အသင်သည် ကျွန်ုပ်တို့အဖို့ မြေမှစမ်းရေချောင်းတခု ထွက်ပေါ်စီးတွေအောင် မပြုလုပ်သမျှကာလပတ်လုံး၊ သို့မဟုတ် အသင့်အဘို့ စွန်ပလွံသပြက် ဥယျာဉ်တခုရှိရမည်။ ၎င်းနောက် ထိုဥယျာဉ်၏ကြားတွင် အသင်သည် စမ်းရေချောင်းများကို စီးဆင်းအောင်ပြုရမည်။ သို့မဟုတ် အသင် ယုံကြည်သည့်အတိုင်း မိုးကောင်းကင်ကို အပိုင်းပိုင်းအစစပြု၍ ကျွန်ုပ်တို့အပေါ်၌ ဖြိုချရမည်။ သို့မဟုတ် အသင်သည် အလ္လာဟ်အရှင်မြတ်နှင့်တကွ ကောင်းကင်တမန်များကို ရှေ့မှောက်သို့ ခေါ်ဆောင်လာရမည်။ သို့မဟုတ် အသင့်အဘို့ ရွှေအတိပြီးသော အိမ်တလုံးရှိရမည်။ သို့မဟုတ် အသင်သည် မိုးကောင်းကင်သို့ တက်ပြရမည်။ (ယင်းသို့ ပြုလုပ်၍မပြသမျှကာလပတ်လုံး) ကျွန်ုပ်တို့သည် အသင့်အား အလျင်း ယုံကြည်မည် မဟုတ်ပါ။ ၎င်းပြင် အသင်သည် (မိုးကောင်းကင်မှ) ကျွန်ုပ်တို့ရွတ်ဘတ်နိုင်ရန် ကျမ်းတစောင်ကို ယူဆောင်၍ မလာသမျှကာလပတ်လုံး အသင်၏တက်ပြခြင်းကိုလည်း (ကျွန်ုပ်တို့ အလျင်း ယုံကြည်ကြမည်မဟုတ်ပါ၊) ဟု ပြောဆိုခဲ့ကြလေသည်။ (အို-နဗီ) အသင် ပြောကြားပါ ကျွန်ုပ်၏အရှင်သခင်သည် ချို့တဲ့မှုအပေါင်းမှ သန့်ရှင်း စင်ကြယ်တော်မူပါ၏။ ကျွန်ုပ်သည် လူသားတမန်တော်တပါးမျှသာလျှင် ဖြစ်ပါသည်။ ကုရ်အာန် (၁၇း၉၀-၉၃)
① အလ္လာဟ်အရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူ၏။ များစွာသော တန်ခိုးပြာဋိဟာများကို ချပေးတော်မူခဲ့၏။ အထူးသဖြင့် ကျမ်းမြတ်ကုရ်အာန်ကို ချပေးတော်မူခဲ့၏။ အခြားသော တန်ခိုးပြာဋိဟာများကို ထားဘိဦး ကျမ်းမြတ်ကုရ်အာန်သည်ပင် ၎င်းတို့အဘို့ လုံလောက်ပေသည်။ ကြည့်-ကုရ်အာန်(၂၉း၅၀-၅၁)

ကာဖိရ်များ မုန်းထား၍ အကြောင်းမဲ့တောင်းဆိုနေကြသော တန်ခိုးပြာဋိဟာများကိုလည်း အလ္လာဟ်အရှင်မြတ်သည် ချပေးတော်မူနိုင်၏။ သို့ရာတွင် ယင်းကဲ့သို့ တန်ခိုးပြာဋိဟာများ ကျရောက်လာပြီးသည့်နောက်သော်မှပင်၊ အကယ်၍ မယုံကြည်ဘဲ ဆက်လက်၍ သွေဖည်နေခဲ့ကြသည်ရှိသော် ➤➤

وَمَا مِنْ دَآبَّةٍ فِى الْأَرْضِ وَلَا طٰٓئِرٍ يَّطِيْرُ بِجَنَاحَيْهِ اِلَّآ اُمَمٌ اَمْثَالُكُمْ ۗ مَا فَرَّطْنَا فِى الْكِتٰبِ مِنْ شَىْءٍ ثُمَّ اِلٰى رَبِّهِمْ يُحْشَرُوْنَ ﴿٣٨﴾

၃၈။ ၎င်းနောက် ပထဝီမြေဝယ် ရှိရှိသမျှသော သက်ရှိ အပေါင်းတို့သည်၎င်း၊ မိမိတို့ တောင်ပံ နှစ်ဘက်ဖြင့် ပျံသန်းလျက်ရှိသော ငှက်တိရိစ္ဆာန် အပေါင်းတို့သည်၎င်း၊ အသင်တို့ကဲ့သို့ အုပ်စုများပင် ဖြစ်ကြပေသည်။ [၁]

ငါအရှင်မြတ်သည် (မိမိမှတ်တမ်း) စာအုပ်တွင် [၂] တစုံတရာကိုမျှ ချန်လှပ်ထားတော်မူသည် မရှိချေ။ ထို့နောက် ၎င်းတို့အားလုံးသည် မိမိ၏ အရှင်မြတ်အထံတော်၌ပင် စုရုံးစေခြင်းကို ခံကြရ ပေမည်။

➤➤ အလ္လာဟ်အရှင်မြတ်သည် ယင်းသို့သော ကာဖိရ်များအား ဆိုင်းငံ့ခွင့်ပေးတော်မမူဘဲ ကြီးလေးသော ပြစ်ဒဏ်ကို တပ်ရိုက် စီရင်တော်မူလေ့ရှိသည်။ ဤသည့်အချက်ကို များစွာသော ကာဖိရ်များသည် မသိကြချေ။ ကြည့်-ကုရ်အာန်(၆:၈)

ကာဖိရ်များက ၎င်းတို့ တောင်းဆိုသည့်အတိုင်း တန်ခိုးပြာဋိဟာ ရောက်ရှိခဲ့ပါလျှင် ၎င်းတို့သည် မုချ ယုံကြည်ကြပါမည်ဟု ကျမ်းသစ္စာကျိန်ဆို၍ပင် ပြောဆိုခဲ့ကြသည်။ ဤကား အပြောမျှသာ ဖြစ်ချေသည်။ အကယ်၍ ၎င်းတို့ထံသို့ တန်ခိုးပြာဋိဟာ ရောက်ရှိလာခဲ့သော် ၎င်းတို့သည် ယုံကြည်ကြမည် မဟုတ်ပေ။ ကြည့်-ကုရ်အာန် (၆:၁၁၀)၊ သို့အတွက်ကြောင့်ပင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ တောင်းဆိုတိုင်း တန်ခိုးပြာဋိဟာများကို ချပေးတော်မမူခြင်းဖြစ်သည်။

(၂) ထိုသူတို့အနက် များစွာသောသူတို့သည် မသိကြချေ။ (ဝါ) ထိုကာဖိရ်များတွင် ယထာဘူတဉာဏ်၊ မဖောက်မပြန် ဟုတ်မှန်တိုင်းသိသော ဉာဏ်ပညာမရှိချေ။ တိကျမှန်ကန်စွာ စဉ်းစားဆင်ခြင် မြော်မြင်မှုလည်း မရှိချေ။ အမှန်မှာ နဗီတမန်တော်များ၏ ဖြောင့်မတ်မှန်ကန်သော တရားဒေသနာတော်များ၊ ဥပမာ "တောင်ဟီဒ်" တဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကိုးကွယ်ခြင်း၊ ကုသိုလ် အကုသိုလ်တရားများ၏ ကျိုးပြစ် ခံစားရမည်ဖြစ်ခြင်း၊ အစရှိသည့် တရားများအတွက် ကိုယ်တွေ့မျက်မြင် တန်ခိုးပြာဋိဟာပြဘို့ပင် မလိုပေ။ ကာဖိရ်များသည် ဤသည့်အချက်ကိုပင် နားမလည်ကြချေ။ အကယ်တန္တ တန်ခိုးပြာဋိဟာ လိုသည်ဟူ၍ပင်ဆိုသော် ယခင်က များစွာသော တန်ခိုးပြာဋိဟာများကို တွေ့မြင်ပြီး ဖြစ်ခဲ့ကြပေသည်။ ထပ်မံ၍ တန်ခိုးပြာဋိဟာ တောင်းဆိုရန် မလိုပေ။

(၁) "ကိယာမတ် နေ့တွင် ပြန်လည်ရှင်ထပြီး "မဟ်ရှရ်" ကွင်းပြင်၌ စုရုံးခြင်းခံကြရမည်ဟူသော ဗျာဒိတ်တော်တွင် သက်ရှိအားလုံးတို့သည် အကျုံးဝင်ပေသည်။

ဤသည်ကို ထောက်ရှုခြင်းအားဖြင့် ကိယာမတ်နေ့တွင် တိရစ္ဆာန်များသည်လည်း စုရုံးခြင်း ခံကြရမည် ဖြစ်ကြောင်း သိရှိရပေသည်။ ဤသည် သာဝကကြီး အဗူဇရ်၊ သာဝကကြီး အဗူဟုရိုင်ရဟ်၊ ဟစန် အစရှိသည့် ပညာရှင် သုခမိန်တို့၏အဆိုတည်း။ (ကုရ်တုဗီ) ➤➤

وَالَّذِينَ كَذَّبُوا بِآيَاتِنَا صُمٌّ وَبُكْمٌ فِي الظُّلُمَاتِ ۗ مَن يَشَإِ اللَّهُ يُضْلِلْهُ وَمَن يَشَأْ يَجْعَلْهُ عَلَىٰ صِرَاطٍ مُّسْتَقِيمٍ ﴿٣٩﴾

၃၉။ စင်စစ် ငါအရှင်မြတ်၏ သက်သေလက္ခဏာတော်များကို မဟုတ်မမှန်ဟု ငြင်းပယ်သော သူတို့ကား နားပင်းသူများနှင့် ဆွံ့အသူများပင် ဖြစ်ကြကုန်၏။ *အမှောင်အမျိုးမျိုးတွင် (တဝဲလည်လည်) ရှိကြကုန်၏။* [၁] အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား (အမှန်တရားကိုသွေဖည်မှုကြောင့်) *လမ်းလွဲ၌ပင် ရှိစေတော်မူ၏။* [၂] ၎င်းပြင် ထိုအရှင်မြတ်သည် မိမိ အလိုတော်ရှိတော်မူသောသူအား (မိမိ၏ကျေးဇူးတော်ဖြင့်) ဖြောင့်မတ်မှန်ကန်သောတရားလမ်းပေါ်၌ တည်ရှိစေတော်မူ၏။

قُلْ أَرَأَيْتَكُمْ إِنْ أَتَاكُمْ عَذَابُ اللَّهِ أَوْ أَتَتْكُمُ السَّاعَةُ أَغَيْرَ اللَّهِ تَدْعُونَ إِن كُنتُمْ صَادِقِينَ ﴿٤٠﴾

၄၀။ (အို-နဗီတမန်တော်) အသင်သည် (ထိုသူတို့အား ဤသို့) ပြောဆိုပါလေ။ အသင်တို့ ပြောပြကြကုန်၊ အကယ်၍ အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်သည် အသင်တို့၏အပေါ်၌ ကျရောက်လာခဲ့သည်ရှိသော်၊ သို့တည်းမဟုတ် "ကိယာမတ်" (ရှင်ပြန်ထမည့်နေ့)သည် အသင်တို့ထံ ဆိုက်ရောက်လာခဲ့သည်ရှိသော် (ထိုကဲ့သို့သော အချိန်ကာလမျိုး၌လည်း) အသင်တို့သည် အလ္လာဟ်အရှင်မြတ်မှတပါး (မိမိတို့ကိုယ်တိုင် ဘုရားအဖြစ် ပြုလုပ် ကိုးကွယ်ကြကုန်သော) အခြားအရာများကိုပင် ဟစ်ခေါ်ကြမည်လော။

---

➤➤ မြေ၌ရှိသော သတ္တဝါများ၊ ရေ၌ရှိသော သတ္တဝါများ၊ ကောင်းကင်၌ ပျံသန်းလျက်ရှိသော သတ္တဝါများအားလုံးတို့သည် လူသားများကဲ့သို့ပင် "အွမ္မတ်" အုပ်စုများပင် ဖြစ်ကြပေသည်။

(၂) "အိလ်ကိတာဗ်" ဟူသည် အလ္လာဟ်အရှင်မြတ်၏ထံတော်၌ရှိသော "လောဟိမတ်ဖူဇ်" ခေါ် မှတ်တမ်းတော်ကို ဆိုလိုသည်။ ထိုမှတ်တမ်းတော်တွင် စောကြောမေးမြန်းရန်အတွက် ကုန်း၊ မြေ၊ ရေ တို့၌ ရှိရှိသမျှသော သက်ရှိအားလုံးတို့၏ အကြောင်းများသည် စ လယ် အဆုံး အတိအကျ ရေးမှတ်ပြီးရှိ၏။

(၁) အလ္လာဟ်အရှင်မြတ်၏ နိမိတ်လက္ခဏာတော်များကို မဟုတ်မမှန်ဟု ပြောဆိုသောသူများသည် နားပင်းသူများ၊ ဆွံ့အသူများ၊ အမိုက်မှောင်တွင်းသို့ ရောက်ရှိနေသူများပင် ဖြစ်ကြပေသည်။ ၎င်းတို့သည် အမှန်တရားကို မကြားနိုင်ကြပေ။ သူတပါးကိုလည်း မမေးမြန်းနိုင်ကြပေ။ တစုံတရာကိုလည်း မမြင်နိုင်ကြပေ။ အမှန်မှာ ၎င်းတို့သည် မိမိတို့၏ကျူးလွန်မှုများကြောင့် မိမိတို့၏စွမ်းရည်သတ္တိများကို မိမိတို့ကိုယ်တိုင်ပင် ➤➤

အသင်တို့ မှန်ကန်သောသူများ ဖြစ်ကြပါလျှင် (ထိုသို့သော အချိန်မျိုးတွင်လည်း အလ္လာဟ်အရှင်မြတ်အား စွန့်လွှတ်၍ မိမိတို့၏ ကိုးကွယ်ရာများကိုသာ ဟစ်ခေါ်သင့်ပေသည်)။

بَلْ إِيَّاهُ تَدْعُونَ فَيَكْشِفُ مَا تَدْعُونَ إِلَيْهِ إِنْ شَاءَ وَتَنْسَوْنَ مَا تُشْرِكُونَ ﴿٤١﴾

၄၁။ (ဤသို့)အလျှင်းမဟုတ်ပေ၊ အမှန်စင်စစ်သော်ကား (ယင်းကဲ့သို့သောအချိန်အခါမျိုးတွင်) အသင်တို့သည် အထူးသဖြင့်(တဆူတည်းသော) ထို *အရှင်မြတ်ကိုသာလျှင် ဟစ်ခေါ်ကြပေမည်။* [၁] ၎င်းနောက် ထို အရှင်မြတ်သည် မိမိ အလိုတော် ရှိခဲ့ပါလျှင်၊ အကြင်(ဘေးအန္တရာယ်)ကိုလည်း ဖယ်ရှားတော်မူအံ့၊ ထိုအရာ (ဘေးအန္တရာယ်ကို ဖယ်ရှားရန်)အတွက် အသင်တို့သည် (ထိုအရှင်မြတ်ကို) ဟစ်ခေါ်ကြကုန်၏။ ၎င်းပြင် (ထိုအခါဝယ်) အသင်တို့သည်လည်း မိမိတို့ (ယခု)တွဲဘက် (ကိုးကွယ်နေ)ကြကုန်သော အရာများကို မေ့ပျောက်သွားကြလတ္တံ့။

---

➤➤ ဖျက်ဆီးထားသူများပင် ဖြစ်ကြ၏။ သို့ရှိရာ ၎င်းတို့အဘို့ အမှန်တရားကို လက်ခံနာယူနိုင်ရန် အခွင့်အလမ်းသည် အသို့လျှင် ရှိနိုင်အံ့နည်း။

(၂) "အလ္လာဟ်အရှင်မြတ်သည် မည်သူ့ကိုမဆို အလိုတော်ရှိပါလျှင် လမ်းလွဲစေတော်မူ၏။" ဟု မိန့်ဆိုတော်မူရာ၌ ထိုအရှင်မြတ်သည် အကြင်သို့သော သူကိုသာလျှင် လမ်းလွဲစေတော် မူသည်။ ထိုသူသည် တရားရရာ ရကြောင်းများကို မိမိကိုယ်တိုင် ပိတ်ဆို့ထားလေသည်။ ဤသည့်သဘောကိုပင် ကုရ်အာန်ကျမ်းမြတ် (၇:၁၇၆) တွင် မိန့်ဆိုထားတော်မူသည်။

(၁) မုရှ်ရစ်က်များသည် ပစ္စက္ခဘဝ၌ပင် သာမန်ဒုက္ခသည်များနှင့် တွေ့ကြုံသောအခါ (အလ္လာဟ်ရှင်မြတ်နှင့် တွဲဘက်၍) မိမိတို့ ကိုးကွယ်လျက်ရှိသော အရာများကို မေ့ပျောက်ပြီး တဆူတည်းသော အလ္လာဟ်အရှင်မြတ်အား သာလျှင် ဟစ်ခေါ်ကြပေသည်။ ကြည့်-ကုရ်အာန်(၁၀:၂၂။ ၂၉:၆၅။ ၃၁:၃၂) ယင်းကဲ့သို့ ဒုက္ခနှင့်တွေ့ကြုံ၍ အလ္လာဟ်အရှင်မြတ်အား ဟစ်ခေါ်ကြသောအခါ ထိုအရှင်မြတ်သည် အလိုတော်ရှိပါလျှင် ၎င်းတို့၏ ဒုက္ခကိုလည်း ဖယ်ရှား၍ ပေးတော်မူ၏။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် ပစ္စက္ခဘဝ၏ အပြစ်ဒဏ်ကိုင်း၊ နောင်တမလွန်ဘဝ၏ အပြစ်ဒဏ်ကိုင်း အလ္လာဟ်အရှင်မြတ်မှတပါး မည်သူတဦးတယောက်မျှ ဖယ်ရှား၍ မပေးနိုင်သည်မှာ ထင်ရှားလှပေသည်။ သို့ဖြစ်ပါလျက်နှင့် အလ္လာဟ်အရှင်မြတ်၏ ဘုန်းသတ္တာများကို မေ့ပျောက်၍ တန်ခိုးပြဒ္ဒိဟာများ တောင်းဆိုခြင်းမှာ အဆိုးရွားဆုံးသော မိုက်မှားမှုကြီးကို ကျူးလွန်ရာ ရောက်ပေသည်။

وَلَقَدْ أَرْسَلْنَآ إِلَىٰٓ أُمَمٍ مِّن قَبْلِكَ
فَأَخَذْنَٰهُم بِٱلْبَأْسَآءِ وَٱلضَّرَّآءِ
لَعَلَّهُمْ يَتَضَرَّعُونَ ﴿٤٢﴾

၄၂။ (အို-နဗီတမန်တော်) မချွတ်မလွဲ ငါအရှင်မြတ်သည် အသင့်အလျှင် ရှိခဲ့ကြကုန်သောလူမျိုးများတို့ထံသို့လည်း (ရစူလ် တမန်တော်များကို) စေလွှတ်တော်မူခဲ့လေသည်။ ထို့နောက် (ယင်းလူမျိုးတို့သည် ထိုတမန်တော်များအား သွေဖည်ငြင်းပယ်ခဲ့ကြလေရာ) ငါအရှင်မြတ်သည် ယင်းသူတို့၌ဆင်းရဲဒုက္ခများနှင့် ရောဂါဝေဒနာများ ဆိုက်ရောက်စေတော်မူခဲ့လေသည်။ သို့မှသာလျှင် ထိုသူများသည် ကျိုးနွံကြပေမည်။ (နောင်တတရားရကြပေမည်။)

فَلَوْلَآ إِذْ جَآءَهُم بَأْسُنَا تَضَرَّعُوا۟
وَلَٰكِن قَسَتْ قُلُوبُهُمْ وَزَيَّنَ
لَهُمُ ٱلشَّيْطَٰنُ مَا كَانُوا۟
يَعْمَلُونَ ﴿٤٣﴾

၄၃။ ထို့နောက် ၎င်းတို့သည် မိမိတို့ထံ ငါအရှင်မြတ်၏(အထံတော်မှ)ပြစ်ဒဏ် ဆိုက်ရောက်လာသောအခါ၌ အဘယ်ကြောင့် ကျိုးနွံနိမ့်ကျခြင်းမရှိခဲ့ကြပါသနည်း။ သို့ရာတွင် ၎င်းတို့၏*စိတ်နှလုံးများသည်မာမြဲတိုင်းမာကျောလျက်ရှိခဲ့၏။*[၁] ထို့အပြင် "ရှိုင်တွာန်" မိစ္ဆာကောင်သည်လည်း ၎င်းတို့ပြုလုပ်လျက်ရှိခဲ့သမျှတို့ကို ၎င်းတို့၏အမြင်၌ လှပတင့်တယ်အောင် *တန်ဆာဆင်၍ ပြထားခဲ့လေသတည်း။*[၂]

فَلَمَّا نَسُوا۟ مَا ذُكِّرُوا۟ بِهِۦ
فَتَحْنَا عَلَيْهِمْ أَبْوَٰبَ كُلِّ
شَىْءٍ حَتَّىٰٓ إِذَا فَرِحُوا۟ بِمَآ

၄၄။ ထို့နောက် ၎င်းတို့သည် မိမိတို့အား သတိပေးနှိုးဆော်ခြင်းခံကြရလေသော ကိစ္စများကို မေ့ပျောက်ထားခဲ့ကြ၏။ ထိုအခါ ငါအရှင်မြတ်သည် ၎င်းတို့အပေါ်၌ ခပ်သိမ်းကုန်သော စည်းစိမ်တို့၏ တံခါးများကို ဖွင့်လှစ်ပေးတော်မူလိုက်၏။

---

(၁) စိတ်နှလုံး ခက်ထန်မာကျောသော သူများသည် ပြစ်ဒဏ်ခံကြရသောအခါ ၎င်းတို့၏ စိတ်နှလုံးများသည် နူးညံ့ ပျော့ပျောင်းလာမည့်အစား ပိုမို၍ပင် ခက်ထန်မာကျော၍ လာခဲ့ပေသည်။

(၂) ရှိုင်တွာန်၏အကြီးဆုံးလက်နက်မှာ မကောင်းမှုများကို ကောင်းသည်ဟု ထင်မြင်စေခြင်းပင်ဖြစ်သည်။ ရှိုင်တွာန်သည် အလွန့်အလွန် ဆိုးသွမ်းယုတ်ညံ့လှသော ဒုစရိုက်မှုများကိုပင် အမြင်အားဖြင့် ကောင်းသည်၊ လက်ငင်းအကျိုးရှိသည်၊ စသည်ဖြင့် တနည်းတဖုံထင်မြင်စေသည်။ သာမန်လူများသည် ရှိုင်တွာန်၏ ကျော့ကွင်းတွင် တိုးဝင်မိကြလေသည်။ သေရည်သေရက် သောက်စားမှု၊ ကာမေသုမိစ္ဆာစာရက် ➢➢

أَوْ تُوا أَخَذْنٰهُمْ بَغْتَةً فَإِذَا هُمْ مُّبْلِسُونَ ﴿٤٤﴾

နောက်ဆုံးတွင် ၎င်းတို့သည် မိမိတို့ ရရှိကြကုန်သော စည်းစိမ်တို့နှင့် စပ်လျဉ်း၍ မော်ကြွား၍ လာကြပြန်သောအခါ ငါအရှင်မြတ်သည် ၎င်းတို့အား ရုတ်တရက် ဖမ်းဆီး (ပြစ်ဒဏ်ပေး)တော်မူလိုက်၏။ ထိုအခါ ၎င်းတို့သည် မျှော်လင့်ချက်ကုန်ဆုံး၍ တွေဝေ မိန်းမောသွားကြလေသတည်း။

فَقُطِعَ دَابِرُ الْقَوْمِ الَّذِينَ ظَلَمُوا ۚ وَالْحَمْدُ لِلّٰهِ رَبِّ الْعٰلَمِينَ ﴿٤٥﴾

၄၅။ ထို့နောက် မတော်မတရား ပြုမူကြကုန်သော သူတို့၏ အခြေအမြစ်သည် ပြတ်သွားလေတော့၏။ ချီးမွမ်းထောပနာ အပေါင်းတို့သည် အမှန်စင်စစ်အားဖြင့် စကြာဝဠာခပ်သိမ်းတို့ကို မွေးမြူဖန်ဆင်းတော်မူသော *အလ္လာဟ်အရှင်မြတ်နှင့်သာ အပ်စပ်ပေသတည်း။*[၁]

قُلْ أَرَءَيْتُمْ إِنْ أَخَذَ اللّٰهُ سَمْعَكُمْ وَأَبْصَارَكُمْ وَخَتَمَ عَلٰى قُلُوبِكُمْ مَّنْ إِلٰهٌ غَيْرُ اللّٰهِ يَأْتِيكُمْ بِهِ ۗ انْظُرْ كَيْفَ نُصَرِّفُ الْاٰيٰتِ

၄၆။ (အို-နဗီတမန်တော်) အသင်ပြောပါလေ။ (အချင်းတို့) အသင်တို့ ပြောပြကြလေကုန်။ အကယ်၍ အလ္လာဟ်အရှင်မြတ်သည် အသင်တို့၏ကြားခြင်းသတ္တိနှင့် မြင်ခြင်းသတ္တိများကို ရုပ်သိမ်းတော်မူသော်၊ ၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့၏စိတ်နှလုံးများကို တံဆိပ်ခတ်နှိပ်တော်မူခဲ့သော်၊ အလ္လာဟ်အရှင်မြတ်မှတပါး ထိုသတ္တိ(များ)ကို အသင်တို့အား ပြန်လည်ပေးမည့်ကိုးကွယ်ရာအရှင် မည်သူရှိသနည်း။

---

➤➤ ကျူးလွန်မှု၊ အတိုးအညွန့်စားမှုများကိုလည်း ရှိုင်တွာန်သည် ကောင်းသည်ဟူ၍ပင် ထင်မြင်စေလျက် ရှိပေသည်။ (မာဂျိဒီ) အအဖ၆၊ စ-၂၈၉။

(၁) ကာဖိရ်များ အမိန့်တော်မနာခံသော ယုတ်မာသူများ၊ ပျက်စီးပပျောက်သွားခြင်းဖြင့် ကမ္ဘာသူ ကမ္ဘာသားများသည် ၎င်းတို့၏ ညစ်ညမ်း ဆိုးသွမ်းလှစွာသော အယူအဆ အပြုအမူ အပြောအဆိုများမှ လွတ်ငြိမ်းချမ်းသာ ခွင့် ရရှိကြပေသည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ကြီးမားသော ကျေးဇူးတော်ကြီးတရပ်ပင် ဖြစ်ပေသည်။ ထို့အတွက်ကြောင့်ပင် ဤမုကဒ္ဒပါဠ်တော်၌ အလ္လာဟ်အရှင်မြတ်အား ချီးမွမ်းထောမနာ ပြုထားခြင်းပင်ဖြစ်သည်။

ثُمَّ هُمْ يَصْدِفُونَ ﴿٤٦﴾

(အို-နဗီတမန်တော်) ငါ အရှင်မြတ်သည် (တောင်ဟီဒ်နှင့် စပ်လျဉ်း၍) သက်သေသာဓကများကို မည်သို့မည်ပုံ (အမျိုးမျိုးအဖုံဖုံ) ပြသတော်မူလျက်ရှိသည်ကို အသင်ရှုပါလေ။ သို့ပါလျက် ထိုသူများသည် လွှဲဖယ်လျက်ပင် ရှိကြပေသည်။

قُلْ أَرَءَيْتَكُمْ إِنْ أَتَىٰكُمْ عَذَابُ ٱللَّهِ بَغْتَةً أَوْ جَهْرَةً هَلْ يُهْلَكُ إِلَّا ٱلْقَوْمُ ٱلظَّٰلِمُونَ ﴿٤٧﴾

၄၇။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား၍သို့)ပြောကြားပါလေ။ (အချင်းတို့) အသင်တို့ပြောပြကြလေကုန်။ အကယ်၍ အလ္လာဟ်အရှင်မြတ်၏ အပြစ်ဒဏ်သည် အသင်တို့ထံရုတ်တရက်သော်၎င်း၊ အထင်အရှားသော်၎င်း၊ရောက်ရှိလာလတ်သော် မတော်မတရားပြုကျင့်ကြကုန်သော သူတို့မှအပ (အခြားမည်သူများ)*ပျက်စီးစေခြင်း ခံကြရဦးမည်နည်း။* [၁]

وَمَا نُرْسِلُ ٱلْمُرْسَلِينَ إِلَّا مُبَشِّرِينَ وَمُنذِرِينَ فَمَنْ ءَامَنَ وَأَصْلَحَ فَلَا خَوْفٌ عَلَيْهِمْ وَلَا هُمْ يَحْزَنُونَ ﴿٤٨﴾

၄၈။ ၎င်းပြင် ငါအရှင်မြတ်သည် ရစူလ်တမန်တော်အပေါင်းတို့ကို ဝမ်းမြောက်ဘွယ်သတင်းပေးသူများနှင့် *သတိပေးနှိုးဆော်သူများအဖြစ်သာလျှင် စေလွှတ်လေ့ရှိတော်မူ၏။* [၂] သို့ဖြစ်ပေရာ မည်သူမဆို "အီမာန်" ယုံကြည်ခြင်း သဒ္ဓါတရားထားရှိကာ (မိမိအခြေအနေကို) ပြုပြင်ခဲ့ပါမူ ထိုကဲ့သို့သောသူတို့၌ မည်သည့် စိုးရိမ်မှုမျှမရှိချေ။ ၎င်းတို့သည် ပူဆွေးကြရမည်လည်း မဟုတ်ပေ။

---

(၁) အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်ကို အမိန့်တော်များကို သွေဖည်သော၊ ကျူးလွန်သောသူများသာလျှင် ခံကြရပေသည်။ အမိန့်တော်ကို နာခံသောသူများ အပြစ်ဒဏ်မှ လွတ်ကင်းကြသည်သာ ဖြစ်ပေသည်။ အလ္လာဟ်အရှင်မြတ်သည် မိမိ၏တမန်တော်များနှင့် မိမိအား ယုံကြည်မြတ်နိုးသော မုအ်မင်န်တို့အား ကာကွယ်ထားတော်မူမည့်အကြောင်း ကုရ်အာန်ကျမ်းမြတ်(၁၀:၁၀၃)တွင် မိန့်ဆိုထားတော်မူသည်။

(၂) နဗီတမန်တော်များအား စေလွှတ်တော်မူခြင်း၏ အဓိကရည်ရွယ်ချက်မှာ တရားဓမ္မဟောကြားရန်နှင့် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို နာခံသောသူများအား ဝမ်းမြောက်ဖွယ် သတင်းပေး၍ ထိုအရှင်မြတ်၏ အမိန့်တော်များကို မနာခံသောသူများအား သတိပေးနှိုးဆော်ရန်ပင် ဖြစ်သည်။ ကာဖိရ်များက မလိုမုန်းတီး၍ တောင်းဆိုသော တန်ခိုးပြာဋိဟာများကို ပြသခြင်းသည် နဗီတမန်တော်များ၏တာဝန်မဟုတ်ချေ။

وَالَّذِينَ كَذَّبُوا بِآيَاتِنَا يَمَسُّهُمُ الْعَذَابُ بِمَا كَانُوا يَفْسُقُونَ ﴿٤٩﴾

၄၉။ သို့ရာတွင် ငါအရှင်မြတ်၏ မုက္ခပါဠ်တော်များကို မဟုတ်မမှန်ဟု ငြင်းပယ်သောသူတို့မူကား ထိုသူတို့သည် စည်းမျဉ်းကို ကျူးကျော် ဖောက်ဖျက်ကြသည့်အတွက် ၎င်းတို့အပေါ်၌ အပြစ်ဒဏ်သည် သက်ရောက်လိမ့်သတည်း။

**တနည်း**

၎င်းပြင် အကြင်သူများသည် ငါအရှင်မြတ်၏ မုက္ခပါဠ်တော်များကို မဟုတ်မမှန်ဟု ငြင်းပယ်ကြ၏။ ထိုသူများသည် (အီမာန်တည်းဟူသော စည်းဝိုင်းအတွင်းမှ) ထွက်ကြသည့်အတွက် ၎င်းတို့၌ ပြစ်ဒဏ်တော်သည် သက်ရောက်၏။

**တနည်း**

၎င်းပြင် အကြင်သူများသည် ငါအရှင်မြတ်၏ မုက္ခပါဠ်တော်များကို မဟုတ်မမှန် ငြင်းပယ်ကြ၏။ ထိုသူများသည် အမိန့်တော်ကို မနာခံခဲ့ကြသည့်အတွက်ကြောင့် ၎င်းတို့၌ အပြစ်ဒဏ်သည် သက်ရောက်မည်ဖြစ်၏။

قُلْ لَا أَقُولُ لَكُمْ عِنْدِي خَزَائِنُ اللَّهِ وَلَا أَعْلَمُ الْغَيْبَ وَلَا أَقُولُ لَكُمْ

၅၀။ (အို-နဗီတမန်တော်) အသင်သည် (ထိုသူတို့အား ဤသို့)ပြောဆိုပါလေ။ (အို-အချင်းတို့) ကျွန်ုပ်ထံတွင် အလ္လာဟ်အရှင်မြတ်၏ ဘဏ္ဍာတော်များရှိသည်ဟူ၍လည်း ကျွန်ုပ်သည် အသင်တို့အား ပြောဆိုသည်မဟုတ်။ ကျွန်ုပ်သည် အကွယ်၌ရှိသည်တို့ကိုမြင်သည်(ဟူ၍လည်းပြောဆိုသည်)မဟုတ်။ [၁]

(၁) ကာဖိရ်၊ မုရှ်ရစ်က်တို့က နဗီတမန်တော်သည် ဘဏ္ဍာတော်များကို ပိုင်ဆိုင်သူဖြစ်ရမည်။ အကွယ်၌ရှိသော အရာများကို သိသူဖြစ်ရမည်။ ကောင်းကင်တမန်ဖြစ်ရမည် စသည်ဖြင့် ပြောဆိုခဲ့ကြ၏။ ထို့အတွက်ကြောင့်လည်း ၎င်းတို့သည် တမန်တော်မြတ်အား အမျိုးမျိုးသောတန်ခိုးပြာဋိဟာများကို ပြသရန် တောင်းဆိုခဲ့ကြ၏။ ➢➢

إِنِّي مَلَكٌ ۖ إِنْ أَتَّبِعُ إِلَّا مَا يُوحَىٰ إِلَيَّ ۚ قُلْ هَلْ يَسْتَوِي الْأَعْمَىٰ وَالْبَصِيرُ ۚ أَفَلَا تَتَفَكَّرُونَ ﴿٥٠﴾

ငါ့ပြင် ကျွန်ုပ်သည် ကောင်းကင်တမန် ဖြစ်သည်ဟူ၍လည်း အသင်တို့အား ပြောဆိုသည် မဟုတ်။ စင်စစ်သော်ကား ကျွန်ုပ်သည် မိမိထံ ကျရောက်လာသော "ဝဟ်ယ်" အမိန့်တော်ကိုသာ လိုက်နာလျက်ရှိ၏။ [1]

(အို-နဗီ) အသင်သည် ပြောကြားပါလေ။ (အို-အချင်းတို့) မျက်စိမမြင်သောသူနှင့် မျက်စိ မြင်သောသူသည် တူနိုင်ပါသလော။ [2] သို့ပါလျက် အသင်တို့သည် မစဉ်းစား မဆင်ခြင်ကြလေသလော။

وَأَنذِرْ بِهِ الَّذِينَ يَخَافُونَ أَن يُحْشَرُوا إِلَىٰ رَبِّهِمْ ۙ لَيْسَ لَهُم مِّن دُونِهِ وَلِيٌّ وَلَا شَفِيعٌ لَّعَلَّهُمْ يَتَّقُونَ ﴿٥١﴾

၅၁။ ငါ့ပြင် (အို-နဗီတမန်တော်) မိမိတို့၏ အရှင်မြတ်အထံတော်သို့ ထိုအရှင်မြတ်မှတပါး ကိစ္စ အဝဝကို ဆောင်ရွက်ပေးမည့်သူဟူ၍၎င်း၊ (အပြစ်မှ ချမ်းသာခွင့်ရရှိစေခြင်းငှာ) ကြားဝင်အသနားခံပေးမည့် သူဟူ၍၎င်း၊ အခြားမည်သူတဦးတယောက်မျှမရှိသည့် အဖြစ်မျိုးနှင့် စုရုံးကြမည်ကို စိုးရိမ်ကြကုန်သော သူတို့အား အသင်သည် ယင်း(ကုရ်အာန်ကျမ်းမြတ်) ဖြင့် သတိပေးနှိုးဆော်ပါလေ။ သို့မှသာလျှင် ထိုသူတို့ သည် ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်ကြကုန်အံ့။ [3]

➤➤ ၎င်းတို့ တန်ခိုးပြရန်မှုဟာ တောင်းဆိုခဲ့သည့်အကြောင်း ကုရ်အာန်ကျမ်းမြတ်(၁၇း၉၀-၉၄။ ၂၅း၇-၈။ ၃၃း၆၃။ ၇း၁၈၇။ ၇၉း၄၂)တွင် ပါရှိပေသည်။ ထို့အတွက်ကြောင့်ပင် ဤမုကျွပါဠ်တော်တွင် နဗီတမန်တော်၏ အဖြစ်မှန်နှင့် တာဝန်ဝတ္တရားကို ထုတ်ဖော် မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။ ဤမုကျွပါဠ်တော်ကို ထောက်ရှုခြင်း အားဖြင့် မုရှိရစ်ကတို့၏ မှားယွင်းသော အယူအဆများကို သိရှိရပေသည်။

(၁) "ကျွန်ုပ်သည် မိမိထံသို့ ကျရောက်လာသော "ဝဟီ" အမိန့်တော်ကိုသာ လိုက်နာ၏။ "နဗီတမန်တော်များသည် အလ္လာဟ်အရှင်မြတ်ထံတော်မှ မိမိတို့ထံသို့ ကျရောက်လာသော ဝဟီအမိန့်တော်များကိုသာ လိုက်နာကြကုန်၏။ တမန်တော်များသည် ဝဟီအမိန့်တော်များနှင့် ပတ်သက်သည့် တာဝန်အရပ်ရပ်တွင် အလ္လာဟ်အရှင်မြတ်ထံတော်မှ ကျရောက်လာသော ဝဟီအမိန့်တော် များကိုသာ တသွေမတိမ်း လိုက်နာကျင့်သုံးကြပေရာ ယင်းတမန်တော်များ၌ အသို့လျှင် အမေ့အမှား အပြစ်တစုံတရာ ရှိနိုင်အံ့နည်း။ ထို့အတွက်ကြောင့်လည်း ရှရီအတ် တရားဥပဒေ၌ နဗီတမန်တော်များအား "မအ်ဆွူမ်" မကောင်းမှုအပေါင်းမှ ကာကွယ်ထိန်းသိမ်းခြင်းခံရသော (ဝါ) လုံးဝ အပြစ်ကင်းသော ပုဂ္ဂိုလ်မြတ်များဟု ဆိုထားခြင်းဖြစ်သည်။ ➤➤

**တနည်း**

၎င်းပြင် အကြင်သူများသည် မိမိတို့၏ အရှင်သခင် ထံတော်၌ စုရုံးကြရမည့်အခါတွင်၊ အလ္လာဟ် အရှင်မြတ်မှတပါး မိမိတို့အား ကူညီ ယိုင်းပင်းပေးမည့်သူ ဟူ၍လည်းမရှိ၊ ၎င်းပြင် လွတ်ငြိမ်းချမ်းသာခွင့်ရရန် အသနားခံပေးမည့်သူ လည်းမရှိမည်ကို လန့်တွေးကြောက်ထိတ် သံဝေဂစိတ် ရှိသူတို့အား (အို-နဗီ) အသင်သည် ဤကုရ်အာန် ကျမ်းမြတ်ဖြင့် သတိပေးပါလေ။ သို့မှသာလျှင် ထိုသူများသည် (မကောင်းမှု ဒုစရိုက်များကို) ရှောင်ကြဉ်ကြပေမည်။

وَلَا تَطْرُدِ الَّذِينَ يَدْعُونَ رَبَّهُم بِالْغَدَاةِ وَالْعَشِيِّ

၅၂။ ထို့ပြင်တဝ မိမိတို့၏ အရှင်မြတ်အား မိုး သောက်ယံ၌၎င်း၊ ညနေချမ်း၌၎င်း၊ ထိုအရှင်မြတ်၏ နှစ်သက်မှုကိုသာရည်စူး၍ ဟစ်ခေါ်တသ(ဂုဏ်တော်

➤➤ ဤမုက္ခပါဌ်တော်ကို ထောက်ရှု၍ နဗီတမန်တော်များ၌ 'ဣဂျ်တီဟာဒ်' ပြုလုပ်ပိုင်ခွင့်မရှိဟု မယူဆရာ။ အွမ္မတ်နောက်လိုက်များ၌ပင် ဣဂျ်တီဟာဒ် ပြုလုပ်ပိုင်ခွင့် ရှိနေပေရာ နဗီတမန်တော်များ၌မူ ဆပေါင်းများစွာ ပို၍ပင်ရှိသည်။ ဆိုလိုသည်ကား ဣဂျ်တီဟာဒ်နှင့် မပတ်သက်သောကိစ္စများတွင် ဝဟီသည် နဗီတမန်တော်များအား လမ်းညွှန်ပြလျက်ရှိပေသည်။ (ဝါ) နဗီတမန်တော်များသည် ဣဂျ်တီဟာဒ်နှင့် မပတ်သက်သောကိစ္စများတွင် ဝဟီ အတိုင်းသာလျှင် လိုက်နာကြကုန်သည်ဟူ၏။ (မာဂျိဒီ)

(၂) မျက်စိမမြင်သူနှင့် မျက်စိမြင်သူဟူသည် ကာဖိရ်နှင့် မုအ်မင်န်ကို ဆိုလိုသည်။ ဤသည် မုဂျာဟိဒ်မှတဆင့် ရရှိသောအဆိုတည်း။

(၃) နဗီတမန်တော်သည် အယုတ်အလတ် အမြတ်မရွေး လူအားလုံးတို့အား တရားဓမ္မ ဟောကြားတော်မူသည် သာဖြစ်၏။ သို့ရာတွင် ထိုတရားဓမ္မ၏ အမြိုက်အရသာကိုမူ နည်းများမဆို အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ခန့်ညားသောစိတ်၊ ကိယာမတ်နေ့တွင် စုရုံးကြရမည့်အရေးကို ကြောက်ထိတ်သံဝေဂစိတ် ရှိသူများသာ ခံစားကြလေသည်။ သို့မဟုတ် နှလုံးရှင်သောသူများသာ ခံစားကြရပေမည်။ (မာဂျိဒီ)

ဤမုက္ခပါဌ်တော်တွင် (ကိယာမတ်နေ့၌) ပြည်လည်စုရုံးခြင်းကို စိုးရိမ်သူများအား သီးသန့် (သတိပေးရမည်ဟူ၍) မိန့်ဆိုထားတော်မူ၏။ အကြောင်းကား ယင်းသို့သတိပေးခြင်းဖြင့် ၎င်းတို့၏ အကျိုး ခံစားမှုသည် ပိုမိုပြည့်ဝ စုံလင်သွားပေမည်။ အဘယ်ကြောင့်ဆိုသော် ၎င်းတို့၏စိုးရိမ်မှုသည် ၎င်းတို့အား ကိယာမတ်နေ့အတွက် ရိက္ခာထုပ် အသင့်ပြင်ဆင်ထားနှင့်ရန် နှိုးဆော်ခြင်းကြောင့်ပင်ဖြစ်၏။

يُرِيدُونَ وَجْهَهُۥ مَا عَلَيْكَ مِنْ حِسَابِهِم مِّن شَىْءٍ وَمَا مِنْ حِسَابِكَ عَلَيْهِم مِّن شَىْءٍ فَتَطْرُدَهُمْ فَتَكُونَ مِنَ ٱلظَّٰلِمِينَ ﴿٥٢﴾

စီးဖြန်း)လျက် ရှိကြကုန်သောသူတို့ကို အသင်သည် (မိမိအပါးမှ) နှင်ထုတ်ခြင်းကို မပြုပါလေနှင့်။ [၁]

၎င်းတို့အား အသင် နှင်ထုတ်ရန်အတွက် အသင်၏ အပေါ်၌လည်း ၎င်းတို့နှင့်ပတ်သက်၍ အကြောင်းပြ ရှင်းလင်းရန်တာဝန် လုံးဝမရှိပေ။ ထိုနည်းတူစွာ ၎င်းတို့အပေါ်၌လည်း အသင်နှင့် ပတ်သက်၍ အကြောင်းပြရှင်းလင်းရန် တာဝန် တစုံတရာမရှိချေ၊အကယ်၍ဤသို့ပြုမိလျှင် မတော်မတရား ကျူးလွန်သူတို့အနက် အပါအဝင်ဖြစ်သွားပေမည်။

**တနည်း**

၎င်းပြင် အသင်သည် အကြင်သူများကို (မိမိထံမှ) မနှင်ပါနှင့်၊ ထိုသူများသည် မွေးမြူတော်မူသောအရှင်မြတ်အား နံနက်အချိန်တွင်၎င်း၊ ညနေအချိန်တွင်၎င်း၊ ခဝပ်ကိုးကွယ်ကြ၏။ ထိုအရှင်မြတ် နှစ်မြို့တော်မူခြင်းကိုသာလျှင် ရည်စူးကြ၏။

အသင်သည်ထိုသူတို့ကို နှင်ထုတ်ရလေအောင် ထိုသူတို့အား စူးစမ်းခြင်းနှင့်ပတ်သက်၍ ထိုသူတို့အပေါ်၌ တစုံတရာတာဝန်ရှိသည်မဟုတ်ချေ၊ ၎င်းပြင် အသင့်အား စူးစမ်းခြင်းနှင့်ပတ်သတ်၍ ထိုသူတို့အပေါ်၌ တစုံတရာ တာဝန်ရှိသည်မဟုတ်ချေ။ သို့ပါလျက် အကယ်၍ အသင် ဤသို့ပြုမိလျှင် အသင်သည် စည်းကမ်းကျူးလွန်သူများတွင် အပါအဝင်ဖြစ်သွားချေမည်။

---

(၁) ဤမုက္ခပါဠ်တော်တွင် အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ခြင်းနှင့် ထိုအရှင်မြတ်၏ အမိန့်၊ ပညတ်အရပ်ရပ်ကို လိုက်နာဆောင်ရွက်ခြင်းအားလုံးတို့သည် အကျုံးဝင်လျက်ရှိပေသည်။

وَكَذَٰلِكَ فَتَنَّا بَعْضَهُم بِبَعْضٍ لِّيَقُولُوٓا۟ أَهَٰٓؤُلَآءِ مَنَّ ٱللَّهُ عَلَيْهِم مِّنۢ بَيْنِنَآ ۗ أَلَيْسَ ٱللَّهُ بِأَعْلَمَ بِٱلشَّٰكِرِينَ ﴿٥٣﴾

၅၃။ စင်စစ်သော်ကား ထိုသူတို့က "အလ္လာဟ် အရှင်မြတ်သည် ငါတို့အနက်မှ *အထူးကျေးဇူးတော် များကို ခြီးမြှင့် ပေးသနားတော်မူသောသူတို့ကား ဤသူများလော"* [၁] ဟု ပြောဆိုကြရန်အလို့ငှာ ဤ နည်းဖြင့် ငါအရှင်မြတ်သည် ထိုသူတို့အနက် *အချို့ သောသူတို့ကို အချို့သောသူတို့အားဖြင့် စမ်းသပ် တော်မူ၏။* [၂] အလ္လာဟ်အရှင်မြတ်သည် ကျေးဇူးတော် ကို သိတတ်သောသူတို့အား ကောင်းစွာ သိရှိတော်မူ သောအရှင်မြတ်ပင် မဟုတ်ပါလော။

**တနည်း**

၎င်းနောက် ငါအရှင်မြတ်သည် ဤနည်း အတိုင်းပင် ထိုသူတို့အနက် အချို့ကို(ကာဖိရ်များကို) အချို့ဖြင့်(မွတ်စ်လင်မ်များဖြင့်) စမ်းသပ်တော်မူ၏။ သို့မှသာလျှင် ထိုသူများက (ကာဖိရ်များက) "ငါတို့ အနက်မှ အလ္လာဟ်အရှင်မြတ် ကျေးဇူးတော်ကို ပြု တော်မူသောသူများကား ဤသူများလော" ဟု ဆိုကြ ပေအံ့။ အလ္လာဟ်အရှင်မြတ်သည် ကျေးဇူးတော်ကို သိတတ်သူများအား ကောင်းစွာ သိတော်မူသောအရှင် မဟုတ်ပါသလော။

---

(၁) **ဖေါ်ပြချက်**

တမန်တော်မြတ်သည် ထိုဆင်းရဲနွမ်းပါးသော မွတ်စ်လင်မ်များကို မိမိထံတော်မှ နှင်ထုတ်တော်မူခဲ့သည်လည်းမဟုတ်၊ ထုတ်ရန်ရည်စူးတော်မူခဲ့သည်လည်းမဟုတ်၊ ဤအမိန့်တော်သည် မောက်မာပလွှားသော ကာဖိရ်များ၏ စကားကို ပယ်ရှား၍ ဆင်းရဲနွမ်းပါးသော မွတ်စ်လင်မ်များ၏ဂုဏ်သိက္ခာကို ထင်ရှားစေရန်အလို့ငှာသာ ထုတ်ပြန်တော်မူခြင်း သာလျှင် ဖြစ်ပေသည်။ ဟက္ကာနီ၊ အ-၄။ စ-၇၇

(၂) အစ္စလာမ်သာသနာကို စတင်၍ လက်ခံသူများတွင် များသောအားဖြင့် ဆင်းရဲနွမ်းပါးသော သူများပင် ဖြစ်ခဲ့ကြ၏။ ချမ်းသာကြွယ်ဝသော မောက်မာပလွှား ယုတ်မာသော ကာဖိရ်များသည် ထိုဆင်းရဲနွမ်းပါးသော မွတ်စ်လင်မ်များကို တွေ့မြင်ကြရသောအခါ "ဤသူများသည် ကျွန်ုပ်တို့အနက်မှ အလ္လာဟ်အရှင်မြတ် ကျေးဇူး ပြုတော်မူသောသူများ ဖြစ်ကြသလော" ဟု ပြက်ရယ်ပြောင်လှောင် ပြောဆို၏။ ➤➤

وَإِذَا جَآءَكَ ٱلَّذِينَ يُؤْمِنُونَ بِـَٔايَٰتِنَا فَقُلْ سَلَٰمٌ عَلَيْكُمْ كَتَبَ رَبُّكُمْ عَلَىٰ نَفْسِهِ ٱلرَّحْمَةَ أَنَّهُۥ مَنْ عَمِلَ مِنكُمْ سُوٓءًۢا بِجَهَٰلَةٍ ثُمَّ تَابَ مِنۢ بَعْدِهِۦ

၅၄။ ထို့ပြင်တဝ (အို-နဗီတမန်တော်) အသင့်ထံသို့ ငါအရှင်မြတ်၏ သက်သေသာဓကေ လက္ခဏာတော်များကို ယုံကြည်သောသူတို့ လာရောက်ကြသောအခါ အသင်သည် (၎င်းတို့အား ဤသို့ ပြောဆိုပါလေ)၊ *"အသင်တို့အပေါ်ဝယ် ချမ်းမြေ့သာယာခြင်းသည် သက်ရောက်ပါစေသား၊"* [၁] အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် မိမိအပေါ်၌ ကရုဏာတရားကို သတ်မှတ်ပြဋ္ဌာန်း၍ ထားရှိတော်မူလေသည်။

---

➤➤ ကာဖိရ်များက ငါတို့သည် ချမ်းသာကြွယ်ဝသူများ ဖြစ်ကြသည်၊ သြဇာအာဏာရှိသူများလည်း ဖြစ်ကြ၏။ ဤသည် အလ္လာဟ်အရှင်မြတ်နှစ်မြို့တော်မူခြင်း၏ နိမိတ်လက္ခဏာတစ်ရပ်ဖြစ်၏။ ဤမွတ်စ်လင်မ်များသည် ဆင်းရဲနွမ်းပါးသော သူများဖြစ်ကြ၏။ အစ္စလာမ်သာသနာသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြစ်လျှင် ဤမွတ်စ်လင်မ်များသည် ယခုကဲ့သို့ ဆင်းရဲနွမ်းပါး၍ နေကြရမည်မဟုတ်ဟု ထင်မှတ်နေခဲ့ကြ၏။ ဤမျှမကသေး ထိုကာဖိရ်များက "အကယ်၍ အစ္စလာမ်သာသနာသည် အလွန်ကောင်းမြတ်ပါလျှင် ထိုသူများသည် အစ္စလာမ်သာသနာကို လက်ခံရာတွင် ငါတို့ကို ကျော်လွန်နိုင်ကြမည်မဟုတ်" ဟူ၍ပင် ပြောဆိုကြသေး၏။ ဤသို့ပြောဆိုခဲ့ကြသည့်အကြောင်း ကုရ်အာန်(၄၆း၁၁)တွင် တွေ့ရှိရပေသည်။ သို့ရာတွင် ဥစ္စာရှိခြင်း၊ ဥစ္စာမဲ့ခြင်း၊ အာဏာရှိခြင်း၊ အာဏာမဲ့ခြင်း၊ စသည်များသည် အဓိကမဟုတ်ပေ။ အမှန်တရားကို သိခြင်း၊ လိုက်နာခြင်း၊ သည်သာလျှင် အဓိကဖြစ်ပေသည်။ ဆင်းရဲနွမ်းပါးသော မွတ်စ်လင်မ်များသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကို ခံစားခဲ့ကြ၏။လိုက်နာကျင့်သုံးခဲ့ကြ၏။ ထို့အတွက်ကြောင့် ထိုအရှင်မြတ်၏ ကျေးဇူးတော်ကို ခံစားခဲ့ကြရလေသည်။ ကာဖိရ်များမှာမူကား၊ အလ္လာဟ်အရှင်မြတ်၏ အမှန်တရားကို မသိမြင်ခဲ့ကြပေ။ သွေဖည်ငြင်းပယ်မှုများတွင်သာ နစ်မွန်းလျက်ရှိခဲ့ကြ၏။ ထို့အတွက်ကြောင့်ပင် ယင်းသူတို့သည် ထိုအရှင်မြတ်၏ ကျေးဇူးတော်နှင့် ကင်းကွာခဲ့ကြလေသည်။

(၁) ဤမုက္ခပါဠ်တော်တွင် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား "ငါ၏အာယသ်တော်များကို ယုံကြည်သောသူများ အသင့်ထံသို့ လာကြသည့်အခါ အသင်သည် "စလာမွန် အလိုင်ကွန်မ်" ဟု ဆိုပါလေ" ဟု မိန့်ကြားထားတော်မူသည်။ ဤမုက္ခပါဠ်တော်နှင့်စပ်လျဉ်း၍ ကာရှ်ရှာဖ်ကျမ်းရှင်က အောက်ပါအတိုင်း အနက်ဖွင့်ဆိုထားသည်။

"စလာမ်" ဆိုရန် အမိန့်တော်သည် အလ္လာဟ်အရှင်မြတ်၏စလာမ်ကို တမန်တော်မြတ်က မုအ်မင်န်တို့အား ပို့ဆောင်ရန် အမိန့်တော်လည်းဖြစ်နိုင်၏။ သို့မဟုတ် ထိုမုအ်မင်န်တို့အား ရိုသေလေးစားရန်နှင့် ၎င်းတို့၏ စိတ်နှလုံးများကို နှစ်သိမ့်စေရန်အလို့ငှာ ၎င်းတို့အား တမန်တော်မြတ်ကပင် စတင်၍ စလာမ်ဆိုရန် အမိန့်တော်လည်း ဖြစ်နိုင်၏။

"စလာမွန် အလိုင်ကွန်မ်" (ဝါ) မနှစ်မြို့ဘွယ်ရာအပေါင်းမှ၎င်း၊ ဘေးဒုက္ခအပေါင်းမှ၎င်း၊ ➤➤

وَأَصْلَحَ فَأَنَّهُ غَفُورٌ رَّحِيمٌ ﴿٥٤﴾

စင်စစ်ဧကန် အသင်တို့အနက် မည်သူမဆို နားမလည်၍ မကောင်းမှု ဒုစရိုက်ကို ပြုမိခဲ့၏။ ထို့နောက် ထိုသူသည် ဝန်ချတောင်းပန်၍ မိမိကိုယ်ကို မိမိပြုပြင်ခဲ့၏။ သို့ဖြစ်လျှင် မုချစင်စစ် ထိုအရှင်မြတ်သည်အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသော အရှင်၊ အလွန်တရာသနားကြင်နာတော် မူထသော အရှင်မြတ်ပင် ဖြစ်တော်မူချေသတည်း။

---

➤➤ ငြိမ်းချမ်းမှုသည် အသင်တို့အပေါ်၌ ရောက်ပါစေ။ 'စလာမ်' သည် "တက်စ်လိမ်" ၏ အနက်၌ဖြစ်၏။ (ဝ) ငြိမ်းချမ်းသာယာမှုရရှိရန် ဆုပန်ကြားခြင်းဖြစ်၏။ သို့ဖြစ်ပေရာ "စလာမွန် အလိုင်ကွန်မ်" ၏ အဓိပ္ပါယ်မှာ ကျွန်ုပ်သည် အသင်တို့ကို စလာမ်ဆိုပါ၏။ (ဝ) အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား အသင်တို့၏ သာသနာရေးနှင့်စပ်လျဉ်း၍၎င်း၊ အသင်တို့၏ အသက်စည်းစိမ်နှင့်စပ်လျဉ်း၍၎င်း၊ ဘေးဒုက္ခအပေါင်းမှ ငြိမ်းချမ်းသာယာအောင် ပြုလုပ်ပေးတော်မူပါရန်အလို့ငှာ ကျွန်ုပ် ဆုတောင်းပါသည်။ ရူဟူလ်ဗယာန်၊အ-၂၊စ-၁၅၆။

"စလာမွန် အလိုင်ကွန်မ်"၊ "အစ္စလာမု အလိုင်ကွန်မ်" ဟူသော မေတ္တာပို့စကားသည် မွတ်စ်လင်မ်တို့ အချင်းချင်း မေတ္တာပို့ရာတွင် သုံးနှုန်းသည့် သီးသန့်စကားဖြစ်သည်၊ ဤမေတ္တာစကားသည် အနက်အဓိပ္ပါယ်အားဖြင့် အလွန်တရာမျှ ပြည့်ဝစုံလင်လှသော ဆုတောင်းပတ္ထနာလည်း ဖြစ်သည်။ ဤမေတ္တာပို့စကားတွင် ပစ္စုပ္ပန်ဘဝ၊ နောင်တမလွန်ဘဝ နှစ်ဌာန၏ ငြိမ်းချမ်းသာယာမှု အစုစုတို့သည် အကျုံးဝင်လျက်ရှိပေသည်။

မွတ်စ်လင်မ်တို့သည် ဤမေတ္တာပို့စကားကို နေရာဌာနမရွေး၊ ကြီးငယ်မခြား လူတန်းစားမခွဲ အမြဲတစေ သုံးနှုန်းကြရသည်၊ ဤမေတ္တာပို့စကား၏ အဓိပ္ပါယ်မှာ "ငြိမ်းချမ်းသာယာမှု အလုံးစုံတို့သည် အသင်တို့အပေါ်၌ ရောက်ပါစေ" ဟူ၍ ဖြစ်သည်။

"စလာမ်" မေတ္တာပို့သခြင်းနှင့်စပ်လျဉ်း၍ တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ ဩဝါဒတော်များကို ဤတွင် အနည်းငယ်ရေးသားဖော်ပြပါအံ့။

> တမန်တော်မြတ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က မိမိ၏ အသက်ဇီဝိန်ကို စိုးပိုင်တော်မူသော အရှင်မြတ်အား တိုင်တည်၍ "အသင်တို့သည် အီမာန်မယုံကြည်ကြသမျှ ကာလပတ်လုံး ဂျန္နတ်သို့ ဝင်ကြရမည် မဟုတ်၊ ၎င်းပြင် အသင်တို့သည် အချင်းချင်း မချစ်ခင်ကြသမျှ ကာလပတ်လုံး မုအ်မင်န် ဖြစ်ကြမည်လည်း မဟုတ်။ ကျွန်ုပ်သည် အသင်တို့အား အလုပ်တစ်ခုကို ညွှန်ပြအံ့။ ထိုအလုပ်ကို အသင်တို့ ပြုလုပ်ကြလျှင် အသင်တို့သည် အချင်းချင်း ချစ်ခင်ကြအံ့၊ (ထိုအလုပ်ကား အခြားမဟုတ်) အသင်တို့သည် အချင်းချင်းတို့၌ စလာမ်မေတ္တာ ပို့သခြင်းကို ဖြန့်ဖြူးကြကုန်" ဟု မိန့်ကြားတော်မူခဲ့လေသည်။
>
> (အဗူဒါဝူဒ်၊ သစ်ရ်မိဇီ၊ မုစ်လ်င်မ်) တာဂျ်အ-၅။ စ-၂၅၉။

وَكَذٰلِكَ نُفَصِّلُ الْاٰيٰتِ وَلِتَسْتَبِيْنَ سَبِيْلُ الْمُجْرِمِيْنَ ﴿٥٥﴾

၅၅။ ငင်းပြင်၊ဤနည်းအတိုင်းပင် အပြစ်ထိုက်သင့်သောသူတို့၏လမ်းစဉ်သည် ထင်ရှားသွားရန်အလို့ငှာ ငါအရှင်မြတ်သည် သက်သေ လက္ခဏာတော်များကို *ထင်ရှားစွာ ထုတ်ဖော်မိန့်ကြားတော်မူလေသတည်း၊*[၁]

**တနည်း**

ငင်းပြင် ဤနည်းအတိုင်းပင် ငါအရှင်မြတ်သည် "အာယသ်" သက်သေလက္ခဏာတော်များကို ထင်ရှားစွာ ဖော်ပြတော်မူသည်။ (သို့မှသာလျှင် မုအ်မင်န်တို့၏ လမ်းစဉ်သည်လည်း ထင်ရှားသွားပေမည်)။ ငင်းပြင် အပြစ်ထိုက်သင့်သူတို့၏ လမ်းစဉ်လည်း ထင်ရှားသွားပေမည်။

قُلْ اِنِّيْ نُهِيْتُ اَنْ اَعْبُدَ الَّذِيْنَ تَدْعُوْنَ مِنْ دُوْنِ اللّٰهِ ؕ قُلْ لَّاۤ اَتَّبِعُ اَهْوَآءَكُمْ ۙ قَدْ ضَلَلْتُ اِذًا وَّمَاۤ اَنَا مِنَ الْمُهْتَدِيْنَ ﴿٥٦﴾

၅၆။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) ပြောကြားပါလေ၊ "အလ္လာဟ်အရှင်မြတ်ကို စွန့်ပယ်၍ *အသင်တို့ ဟစ်ခေါ်တသကြကုန်သော သူတို့အား ကိုးကွယ်ဆည်းကပ်ခြင်းမှ ငါသည် တားမြစ်ခြင်းကို ခံရပြီးဖြစ်သည်။"* [၂]

အသင်သည်(ဤသို့လည်း) ပြောကြားပါလေ။ "ငါသည် အသင်တို့၏ အချည်းနှီးသော အလိုဆန္ဒများကို အလျှင်း လိုက်နာမည်မဟုတ်ပေ။ သို့လိုက်နာမိပါလျှင် ငါသည် လမ်းမှားသို့ ရောက်သွားပေမည်။ *ငင်းပြင် ငါသည် တရားလမ်းမှန်ကို ရရှိသောသူတို့တွင်လည်း အပါအဝင် ဖြစ်မည်မဟုတ်ပေ။* [၃]

---

(၁) မုအ်မင်န်တို့၏ လမ်းစဉ်လည်း အထင်အရှားဖြစ်၏။ သူယုတ်မာတို့၏ လမ်းစဉ်လည်း အထင်အရှားဖြစ်၏။ ယင်းသို့ လမ်းစဉ်နှစ်ရပ်လုံးသည် အထင်အရှား ဖြစ်ပြီးနောက်တွင် မည်သူမဆို မည်သည့်လမ်းစဉ်ကိုပင် လိုက်နာစေကာမူ အတည့်အလင်း အထင်အရှား ပြတ်ပြတ်သားသား လိုက်နာရပေမည်။ ဤသို့သော သဘောကို ကုရ်အာန်ကျမ်းမြတ်(၈း၄၂)တွင် မိန့်ကြားထားတော်မူ၏။

(၂) မုရှ်ရစ်က်တို့သည် တမန်တော်မြတ်အား မိမိတို့၏သာသနာဘက်သို့ပါအောင် ဆွဲဆောင်ခဲ့ကြ၏။ ➢➢

قُلْ إِنِّي عَلَىٰ بَيِّنَةٍ مِّن رَّبِّي وَكَذَّبْتُم بِهِۦ ۚ مَا عِندِي مَا تَسْتَعْجِلُونَ بِهِۦٓ ۚ إِنِ ٱلْحُكْمُ إِلَّا لِلَّهِ ۖ يَقُصُّ ٱلْحَقَّ ۖ وَهُوَ خَيْرُ ٱلْفَٰصِلِينَ ﴿٥٧﴾

၅၇။ (အို-နဗီတမန်တော်)အသင်သည် (ဤကဲ့သို့) ပြောကြားပါလေ၊ မုချဧကန် ငါသည် မိမိအား ဖန်ဆင်း မွေးမြူတော်မူသော အရှင့်ထံတော်မှဖြစ်သော(ကြီးမားထင်ရှားသော)သက်သေသာဓကအပေါ်၌တည်ရှိပေသည်။ သို့ရာတွင် အသင်တို့သည် ထို(သက်သေသာဓက)ကိုပင် မဟုတ်မမှန်ဟု ငြင်းပယ်ခဲ့ကြလေသည်။ အသင်တို့ အလျင်စလို တောင်းဆိုကြသောအရာ (ပြစ်ဒဏ်)သည် ငါ့ထံ၌မရှိပေ။

အမိန့်အာဏာကိုကား အလ္လာဟ်အရှင်မြတ်သာလျှင် ပိုင်ဆိုင်တော်၏။ ထိုအရှင်မြတ်သည်သာလျှင် အမှန်ကို ထုတ်ဖော်မိန့်ကြားတော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည်သာလျှင် *အကောင်းဆုံး စီရင်ဆုံးဖြတ်တော်မူသောအရှင် ဖြစ်တော်မူပေသည်။* [၁]

---

▶▶ ထို့အတွက်ကြောင့် ဤမုက္ခပါဠ်တော်တွင် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်သည် ထိုမုရှ်ရိစ်က်တို့ ဆွဲဆောင်ရာဘက်သို့ အလျင်းလိုက်ပါမည်မဟုတ်ကြောင်း အတည့်အလင်း ကျေညာတော်စေတော်မူခြင်းဖြစ်သည်၊ ② ဤမုက္ခပါဠ်တော်ကို ထောက်ရှုခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ် သတ်မှတ် ပြဋ္ဌာန်းထားတော်မူသော ဥပဒေစည်းမျဉ်းများသည် အဘက်ဘက်တွင် လိုလေသေးမရှိ၊ ပြည့်ဝစုံလင်လှကြောင်းနှင့် လူသားတို့ မိမိတို့ အသိဉာဏ်နှင့်ယှဉ်၍ တွေးဆ ဆင်ခြင်ပြုလုပ်ထားသည့် အယူအဆများသည် အလွန်နိမ့်ကျ ညံ့ဖျင်းကြောင်း ကောင်းစွာ သိရှိရပေသည်။

သူမွန်သူမြတ်တို့၏ အဓိပတိ အချုပ်ဖြစ်တော်မူသော တမန်တော်မြတ်အားပင် "အသင်လူသားတို့ ပြုလုပ်ထားသည့် ဥပဒေစည်းမျဉ်းများ၊ ပူဇော် ပ,သနည်းများသည် အလွန်တရာမှ နိမ့်ကျညံ့ဖျင်း၍ စက်ဆုပ်ဘွယ်ကောင်းလှပေသည်။ အကယ်တန္တု ငါသည် အသင်တို့၏ စည်းမျဉ်းဥပဒေများနှင့် ပူဇော် ပ,သနည်းများကို လိုက်နာ ကျင့်သုံးမိခဲ့သည်ရှိသော်၊ ငါသည်လည်း မိမိ၏ဂုဏ်ထူးမှ ကျဆင်း၍ အသင်တို့ကဲ့သို့ပင် လမ်းမှားသူများတွင် အပါအဝင် ဖြစ်သွားပေမည်" အလ္လာဟ်အရှင်မြတ်က ပြောကြားစေတော်မူထားသည်။

"အဟ်ဝါ"သည် "ဟဝါ"၏ ဗဟုဝုစ်ကိန်းဖြစ်သည်။ "ဟဝါ" ဟူသောပုဒ်သည် အနက်အဓိပ္ပါယ်အားဖြင့် အလွန်ကျယ်ဝန်း၏။ "ဝဟီ" မုက္ခပါဠ်တော်များနှင့် ဆန့်ကျင်၍ လူသားတို့ မိမိတို့ဉာဏ်ဖြင့် ပြုလုပ်ထားသော အရာအားလုံးတို့သည် ဤ "ဟဝါ"ဟူသောပုဒ်တွင် အကျုံးဝင်ပေသည်။ မာဂျိဒီ၊ အ-၂၊ စ-၂၉၂၊ အအ-၈၅၊

① တမန်တော်မြတ်သည် မိမိ၏အမျိုးသားများရှေ့မှောက်တွင် ခဝပ်ကိုးကွယ်ခြင်းကို ခံထိုက်တော်မူသောအရှင်မှာ တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်သာဖြစ်ကြောင်း၊ မိမိသည်ထိုအရှင်မြတ်၏ "ရစူလ်" တမန်တော် တစ်ပါးဖြစ်ကြောင်း၊ ဟောကြားတော်မူသည့်အခါ မုရှ်ရိစ်က်များက တမန်တော်မြတ်နှင့် ပတ်သက်၍ ▶▶

၅၈။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) ပြောကြားပါလေ၊ "အကယ်၍ အသင်တို့ အလျင်စလို တောင်းဆိုနေကြသောအရာ (ပြစ်ဒဏ်)သည် ငါ့ထံ၌ရှိပါလျှင် ငါနှင့် အသင်တို့စပ်ကြားတွင် ဖြစ်ပေါ်နေသော ပြဿနာသည် ဖြေရှင်းပြီး ဖြစ်ပေသည်။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် မတရားသောသူတို့ကို ကောင်းစွာသိတော်မူသော အရှင် ဖြစ်တော်မူသည်။

قُلْ لَّوْ اَنَّ عِنْدِىْ مَا تَسْتَعْجِلُوْنَ بِهٖ لَقُضِىَ الْاَمْرُ بَيْنِىْ وَبَيْنَكُمْ ؕ وَاللّٰهُ اَعْلَمُ بِالظّٰلِمِيْنَ ۝٥٨

၅၉။ ၎င်းပြင် ထို အရှင်မြတ်အထံတော်တွင် အကွယ်၌ရှိသော အရာများ၏ (သော့များသည်ရှိ၏)။ (တနည်း) ဘဏ္ဍာတော်များသည်ရှိ၏။ ယင်း(သော့များ-ဘဏ္ဍာတော်များကို) ထိုအရှင်မြတ်မှတပါး မည်သူမျှ မသိချေ။ ၎င်းပြင် ထိုအရှင်မြတ်သည် သာလျှင် ပထဝီမြေ၌ ရှိရှိသမျှသော အရာတို့ကိုငင်း၊ သမုဒ္ဒရာ ပင်လယ်၌ ရှိရှိသမျှသော အရာတို့ကိုငင်း သိရှိတော်မူ၏။

وَعِنْدَهٗ مَفَاتِحُ الْغَيْبِ لَا يَعْلَمُهَاۤ اِلَّا هُوَ ؕ وَيَعْلَمُ مَا فِى الْبَرِّ وَالْبَحْرِ ؕ وَمَا تَسْقُطُ مِنْ وَّرَقَةٍ اِلَّا يَعْلَمُهَا وَلَا حَبَّةٍ

➤➤ "ဤသူသည် အသင်တို့ကဲ့သို့ လူသားတစ်ဦးမျှသာ ဖြစ်ပေသည်၊ အသင်တို့သည် သိမြင်ကြပါလျက် စုန်းပယောဂ (စကားကိုနားထောင်ရန်) သွားကြသလော" ဟု ပြောဆိုကြ၏။ ကုရ်အာန်ကျမ်းမြတ်နှင့် စပ်လျဥ်း၍ ထိုသူများက (ဤကုရ်အာန်သည်) သွေးလေချောက်ချား၍ မြင်မက်သော အိပ်မက်များသာဖြစ်သည်" ဟုလည်း ပြောဆိုကြ၏။ အချို့က "ဤကုရ်အာန်သည် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) မိမိကိုယ်တိုင် လုပ်ကြံပြောဆိုသောအရာသာဖြစ်သည်ဟု ဆိုကြ၏။ အချို့က မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် လင်္ကာဆရာဖြစ်သည်။ သူသည် အကယ်၍ ရစူလ်တမန်တော်ဖြစ်လျှင် အတိတ်ခေတ်တွင် ပွင့်လေကုန်သော ရစူလ်တမန်တော်များကဲ့သို့ ကျွန်ုပ်တို့ထံ နိမိတ်လက္ခဏာတစ်ခု ယူလာသင့်သည်ဟု ပြောဆိုကြ၏။

ထိုအခါ အလ္လာဟ်အရှင်မြတ်က ထိုထိုသော ကာဖိရ်၊ မုရှ်ရစ်က်တို့အား ချေပပြောဆိုရန်အတွက် တမန်တော်မြတ်အား တန်ခိုးပြာဋိဟာများသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာရှိသည်။ ကျွန်ုပ်လက်တွင်း၌မရှိ။ ကျွန်ုပ်သည် ရစူလ်တမန်တော်တစ်ပါးမျှသာ ဖြစ်သည်။ ကျွန်ုပ်၏တာဝန်မှာ ဟောကြားရန်သာ ဖြစ်သည်။ ထိုအရှင်မြတ်သည် ကျွန်ုပ်နှင့်အသင်တို့ စပ်ကြားတွင် အမှန်အတိုင်း စီရင်တော်မူလိမ့်မည်။ ကျွန်ုပ်တို့တွင် မည်သူကမှန်သည်၊ မည်သူကမှားသည်ကို အထင်အရှား ပြတော်မူလိမ့်မည်။ ထိုအရှင်မြတ်သည် အကောင်းဆုံး တရားအမျှတဆုံး စီရင်တော်မူသော အရှင်ဖြစ်သည်။ အဆုံးအဖြတ်ပေးရာ၌ ထိုအရှင်မြတ်တွင် ထောက်ထားငဲ့ညှာစရာအကြောင်း အလျှင်း မရှိဟုချေပပြောဆိုပါလေ ဟု မိန့်ကြားတော်မူလေသည်။

فِى ظُلُمٰتِ الْاَرْضِ وَلَا رَطْبٍ وَّلَا يَابِسٍ اِلَّا فِىْ كِتٰبٍ مُّبِيْنٍ ﴿٥٩﴾

ထို့ပြင်တဝ သစ်ရွက်တစ်ရွက် ကြွေကျသည်ကိုပင် ထိုအရှင်မြတ်သည် သိရှိတော်မူ၏။ ၎င်းပြင် ပထဝီမြေ၏ အမှောင်အထပ်ထပ်တွင် ကျနေသော (သစ်)စေ့ ဟူသရွေ့ တို့သည်လည်းကောင်း၊ စိမ်းစိုသော အရာဝတ္ထု ဟူသရွေ့တို့သည်လည်းကောင်း၊ သွေ့ခြောက်သော အရာဝတ္ထု ဟူသရွေ့တို့သည် လည်းကောင်း၊ ရှင်းလင်းထင်ရှားသော (မှတ်တမ်း) စာအုပ်တွင် ရှိကုန်၏။

وَهُوَ الَّذِىْ يَتَوَفّٰىكُمْ بِالَّيْلِ وَيَعْلَمُ مَا جَرَحْتُمْ بِالنَّهَارِ ثُمَّ يَبْعَثُكُمْ فِيْهِ لِيُقْضٰٓى اَجَلٌ مُّسَمًّى ۚ ثُمَّ اِلَيْهِ مَرْجِعُكُمْ ثُمَّ يُنَبِّئُكُمْ بِمَا كُنْتُمْ تَعْمَلُوْنَ ﴿٦٠﴾

**၆၀။** ၎င်းပြင် ထိုအရှင်မြတ်သည် အကြင်အရှင်မြတ်ပင်တည်း။ ထိုအရှင်မြတ်သည် အသင်တို့အား *ညဉ့်အချိန်၌ အိပ်စက်စေတော်မူ၏။* [၁] ၎င်းပြင် အသင်တို့ နေ့၌ပြုမူသမျှတို့ကိုလည်း ထိုအရှင်မြတ်သည် သိရှိတော်မူ၏။ ထို့နောက်တဖန် ထိုအရှင်မြတ်သည် အသင်တို့အား ထိုနေ့၌ပြန်ထစေတော်မူ၏။ (တနည်း) ယင်းအိပ်စက်ခြင်းမှ ပြန်နိုးစေတော်မူ၏။

သို့မှသာလျှင် သတ်မှတ်ပြဋ္ဌာန်းထားသော အသက်တမ်းသည် စေ့သွားပေမည်။ တဖန် အသင်တို့သည် ထိုအရှင်မြတ် အထံတော်သို့သာလျှင် ပြန်လည် ရောက်ရှိကြကုန်အံ့။ ၎င်းနောက် ထိုအရှင်မြတ်သည် အသင်တို့အား အသင်တို့ ပြုမူသမျှတို့ကို ထုတ်ဖော် မိန့်ကြားတော်မူအံ့။

(၁) ညဉ့်အချိန် လူသားတို့ အိပ်စက်သည့်အခါ အလ္လာဟ်အရှင်မြတ်သည် လူသားတို့၏ အာရုံ၊ သိမှတ်တတ်သော သတ္တိ၊ အသိ သတိ၊ ဉာဏ်များကို ရုပ်သိမ်းထားတော်မူ၏။ ယင်းသို့ ရုပ်သိမ်းထားတော်မူခြင်းကြောင့် အသက်ဇီဝိန်သည် ထွက်သွားသည်မဟုတ်ချေ။

وَهُوَ الْقَاهِرُ فَوْقَ عِبَادِهِ وَيُرْسِلُ عَلَيْكُمْ حَفَظَةً حَتَّىٰ إِذَا جَاءَ أَحَدَكُمُ الْمَوْتُ تَوَفَّتْهُ رُسُلُنَا وَهُمْ لَا يُفَرِّطُونَ ﴿٦١﴾

၆၁။ ၎င်းပြင် ထိုအရှင်မြတ်သည်သာလျှင် မိမိကျွန်များအပေါ်ဝယ် လွှမ်းမိုးတော်မူသောအရှင်ဖြစ်တော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့ထံ ထိန်းသိမ်းစောင့်ရှောက်သော("မလာအိကဟ်" ကောင်းကင်တမန်)များကို စေလွှတ်တော်မူ၏။

နောက်ဆုံးတွင် အသင်တို့အနက် တစ်ဦးဦးထံ "မရဏ" သေခြင်းတရားသည် ဆိုက်ရောက်လာသောအခါ၊ ငါအရှင်မြတ်၏ ("မာလာအိကဟ်" ကောင်းကင်တမန်)များသည် ထိုသူ(၏အသက်ဓိဝိန်)ကို ရုပ်သိမ်းကြ၏။ ၎င်းပြင် ထို(မလာအိကဟ် ကောင်းကင်တမန်)တို့သည် (ငါအရှင်မြတ်၏ အမိန့်တော်များကို လိုက်နာ ဆောင်ရွက်ရာတွင် အနည်းငယ် စိုးစဉ်းမျှ) ပေါ့လျော့ကြသည်မရှိချေ။

ثُمَّ رُدُّوا إِلَى اللَّهِ مَوْلَاهُمُ الْحَقِّ أَلَا لَهُ الْحُكْمُ وَهُوَ أَسْرَعُ الْحَاسِبِينَ ﴿٦٢﴾

၆၂။ ထို့နောက် တဖန် ယင်းသူတို့သည် မိမိတို့၏ အရှင်သခင် အစစ်အမှန် ဖြစ်တော်မူသော အလ္လာဟ် အရှင်မြတ်အထံတော်သို့ ပြန်လည်ပို့ဆောင်ခြင်းကို ခံကြရမည်။ နားထောင်ကြလေကုန်။ စီရင်ဆုံးဖြတ်ရန် တန်ခိုး အာဏာသည် ထိုအရှင်မြတ်၌သာရှိသည်။ ၎င်းပြင် ထိုအရှင်မြတ်သည် အမြန်ဆုံး စာရင်းမေးမြန်းတော်မူမည့် အရှင်မြတ်ပင် ဖြစ်တော်မူသည်။

قُلْ مَنْ يُنَجِّيكُمْ مِنْ ظُلُمَاتِ الْبَرِّ وَالْبَحْرِ تَدْعُونَهُ تَضَرُّعًا وَخُفْيَةً لَئِنْ أَنْجَانَا مِنْ

၆၃။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ "(အချင်းတို့) အသင်တို့အား ကုန်းမြေနှင့် သမုဒ္ဒရာပင်လယ်၏အမှောင်အထပ်ထပ်တို့မှ မည်သူသည် ကယ်တင်ပါသနည်း။" အကယ်၍ ထိုအရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ဤအန္တရာယ်များမှ လွတ်မြောက်စေတော်မူပါလျှင် ကျွန်တော်မျိုးတို့သည်

هٰذِهٖ لَنَكُوْنَنَّ مِنَ الشّٰكِرِيْنَ ۝٦٣

ကျေးဇူးတော်ကို သိတတ်သောသူတို့တွင် အပါအဝင် ဖြစ်ကြပါမည်” ဟူ၍ အသင်တို့သည် (အလ္လာဟ်) အရှင်မြတ်ကိုသာ ငိုကြွေးကာရင်း၊ တိတ်ဆိတ်စွာ ၎င်း၊ ဟစ်ခေါ်တသ (ဆုတောင်းပတ္ထနာပြု)ကြကုန်သည် (မဟုတ်ပါလော)”။ ⁽¹⁾

**တနည်း။**

(အို-နဗီ) အသင်သည် ပြောကြားပါလေ။ (အို-မုရှ်ရစ်က်အပေါင်းတို့) ကုန်းမြေနှင့်သမုဒ္ဒရာ၏ အမှောင်(ဘေးဒုက္ခ)များမှ အသင်တို့ကို မည်သူ ကယ်တင်သနည်း။ (ထိုအချိန်တွင်) အသင်တို့သည် (အလ္လာဟ်)အရှင်မြတ်ကိုသာလျှင် (တခါတရံ) ကျိုးနွံစွာဖြင့်၎င်း၊ (တခါတရံ) တိတ်ဆိတ်စွာ၎င်း၊ တသကြ၏။ (၎င်းပြင် အသင်တို့က) “အကယ်၍ ထိုအရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ဤ ဘေးဒုက္ခမှ ကယ်တင်တော်မူပါလျှင် ကျွန်တော်မျိုးတို့သည် ကျေးဇူးတော်ကိုသိတတ်သောသူများတွင် မုချ အပါအဝင် ဖြစ်ကြပါမည်” (ဟု ပြောဆိုကြသည်)။

قُلِ اللّٰهُ يُنَجِّيْكُمْ مِّنْهَا وَمِنْ كُلِّ كَرْبٍ ثُمَّ اَنْتُمْ تُشْرِكُوْنَ ۝٦٤

၆၄။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့) ပြောကြားပါလေ၊ “(အချင်းတို့) အလ္လာဟ်အရှင်မြတ်သည်သာလျှင် အသင်တို့အား ထို(ဘေးအန္တရာယ်)တို့မှ၎င်း၊ (အခြားအခြားသော) ဘေးအန္တရာယ်တိုင်းမှ၎င်း၊ (စိတ်ဒုက္ခအပေါင်းမှ၎င်း၊) လွတ်မြောက်စေတော်မူ၏။

(၁) ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော်(၆:၆၃)၏ အလိုသဘောမှာ ဤသို့ဖြစ်သည်၊ အလွန်ကြီးမား ပြင်းထန်လှသော ဘေးဒုက္ခများကို မချိမဆန့် အလူးအလဲခံရပြီးလျှင် လောကီရေးရာ မှီခိုအားထားဘွယ်ရာ အပေါင်းတို့မှ မြော်လင့်ချက်လုံးဝကုန်ဆုံးသည့်ဘဝသို့ ရောက်ရသည့်အခါတွင် လူသားတို့၏ မူလသဘာဝ စိတ်ဓာတ်သည် အလိုအလျောက် အလ္လာဟ်အရှင်မြတ်ဘက်သို့ ညွှတ်လာပြီး ထိုအရှင်မြတ်အား မှီခိုရာ အားထားရာ အရှင်ဟူ၍ အကယ်ဖြူစင်သော စိတ်ထားဖြင့် ကျိုးနွံစွာ ဆုပန်လေသည်။



ထို(သို့ လွတ်မြောက်စေတော်မူပြီး) နောက်၌လည်း အသင်တို့သည် (အခြားအရာများကို) ထိုအရှင်မြတ်နှင့် တွဲဘက်(ယှဉ်တွဲ၍) ကိုးကွယ်ကြကုန်သတည်း။ ၁

قُلْ هُوَ الْقَادِرُ عَلَىٰٓ أَن يَبْعَثَ عَلَيْكُمْ عَذَابًا مِّن فَوْقِكُمْ أَوْ مِن تَحْتِ أَرْجُلِكُمْ أَوْ يَلْبِسَكُمْ شِيَعًا وَيُذِيقَ بَعْضَكُم بَأْسَ بَعْضٍ ۗ انظُرْ كَيْفَ نُصَرِّفُ الْآيَاتِ لَعَلَّهُمْ يَفْقَهُونَ ﴿٦٥﴾

၆၅။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့လည်း) ပြောကြားပါလေ။ ထိုအရှင်မြတ်သည် အသင်တို့အပေါ်သို့ အသင်တို့၏ အထက်မှဖြစ်စေ၊ အသင်တို့၏ ခြေထောက်များ အောက်မှဖြစ်စေ၊ အပြစ်ဒဏ် (တစုံတရာ)တို့ သက်ရောက်စေခြင်းကိုသော်၎င်း၊ အသင်တို့အား အသင်းအဖွဲ့များကွဲပြားစေပြီး အချင်းချင်း တိုက်ခိုက်စေလျက် အသင်တို့ အနက်အချို့၏ (တိုက်ခိုက်မှု) အရသာကို မြည်းစမ်းခြင်းကိုသော်၎င်း၊ ပြုစွမ်းနိုင်တော်မူသော အရှင်ဖြစ်တော်မူသည်။

(အို-နဗီတမန်တော်) ငါ အရှင်မြတ်သည် (တောင်ဟီဒ်နှင့် စပ်လျဉ်း၍) သက်သေသာဓကများကို မည်သို့မည်ပုံ အမျိုးမျိုးအဖုံဖုံ ပြောင်းလွှဲပြသတော်မူသည်ကို အသင်ရှုပါလေ၊ သို့မှသာလျှင် ထိုသူများသည် နားလည်ကြပေမည်။

---

➤➤ ဤမုက္ခပါဌ်တော်တွင် လူသားတို့၏ အဆိုပါ မူလသဘာဝစိတ်ဓာတ်ကို နှိုးဆော်ထုတ်ဖော်ပြီးလျှင် အလ္လာဟ်အရှင်မြတ်တပါးတည်း ရှိတော်မူသည့်အကြောင်းကို ထင်ရှားစေတော်မူထားသည်။

(၁) စိတ်နှလုံးသေးသိမ် ညံ့ဖျင်းသောသူများသည် ဘေးဒုက္ခနှင့်တွေ့ဆုံသည့်အခါ ရှိုက်ကြီးတငင် ငိုကြွေးကြ၏။ ထိုဒုက္ခမှ လွတ်မြောက်ကြသောအခါ ယခင်အတိုင်းပင် ဆိုးမြဲတိုင်း ဆိုးမိုက်ကြ၏။ မောက်မာ ပ,လွှားဝါကြွားကြ၏။ "ခွေးမြီးကောက် ကျည်တောက်စွပ်" ဆိုသကဲ့သို့ ကောက်မြဲတိုင်း ကောက်ကြ၏။ (ထို့အတူပင် မုရှ်ရစ်က်သည် ဒုက္ခနှင့်တွေ့ဆုံ၍ ကယ်သူမမြင်သည့်အခါ အလ္လာဟ်အရှင်မြတ်အား ငိုယိုတသ ဆုပန်ကြ၏။ သို့ရာတွင် ဒုက္ခကင်းဝေးသွားသောအခါ ယင်းမုရှ်ရစ်က်တို့သည် ထိုအရှင်မြတ်အား မေ့ပျောက်၍ မိမိတို့ ပြုလုပ်ထားသောအရာများကို ကိုးကွယ်မြဲတိုင်း ကိုးကွယ်ကြပြန်၏။

وَكَذَّبَ بِهِ قَوْمُكَ وَهُوَ الْحَقُّ قُل لَّسْتُ عَلَيْكُم بِوَكِيلٍ ﴿٦٦﴾

၆၆။ သို့ရာတွင် (အို-နဗီတမန်တော်) ထိုအရာကို အသင်၏အမျိုးသားများက မဟုတ်မမှန်ဟုငြင်းပယ်ခဲ့ကြကုန်၏။ စင်စစ်သော်ကား ၎င်း (အပြစ်ဒဏ်) သည် အမှန်ပင်(သက်ရောက်မည်သာ)တည်း။ (အို-နဗီတမန်တော်) အသင်သည်(၎င်းတို့အား) “ငါသည် အသင်တို့အပေါ် ကြီးကြပ် အုပ်ထိန်းသူမဟုတ်ပါ” ဟု ပြောကြားပါလေ။

لِّكُلِّ نَبَإٍ مُّسْتَقَرٌّ وَسَوْفَ تَعْلَمُونَ ﴿٦٧﴾

၆၇။ အကြောင်းကြားချက်၊ မှာကြားချက်၊ သတင်းတိုင်း (ဖြစ်ပျက်ရန်)အတွက် ကန့်သတ်ထားသော အချိန်တချိန်ရှိ၏။ စင်စစ် အသင်တို့သည် မကြာမီအတွင်း သိရှိကြမည်။ [၁]

وَإِذَا رَأَيْتَ الَّذِينَ يَخُوضُونَ فِي آيَاتِنَا فَأَعْرِضْ عَنْهُمْ حَتَّىٰ يَخُوضُوا فِي

၆၈။ ၎င်းပြင် (အို-နဗီတမန်တော်) ငါအရှင်မြတ်၏ မုက္ခပါဌ်တော်များကို ကဲ့ရဲ့ပြစ်တင်သော သူတို့ကို အသင်တွေ့မြင်သောအခါ ၎င်းတို့သည် အခြားအကြောင်းအရာများ၌ စိတ်ဝင်စားသွားကြသည်အထိ အသင်သည် ၎င်းတို့၏ထံ (ထိုင်ခြင်း)မှ လွှဲရှောင်နေပါလေ။

---

(၁) ကုရ်အာန်ကျမ်းမြတ် (၆း၆၆)တွင် ပါရှိသည့်အတိုင်း ကာဖိရ်များသည် ကုရ်အာန်ကျမ်းမြတ်ကိုသော်၎င်း၊ အပြစ်ဒဏ် သက်ရောက်မည်ကိုသော်၎င်း၊ ငြင်းဆိုကာ ကုရ်အာန်ကျမ်းမြတ်သည် မမှန်၊ အပြစ်ဒဏ် သက်ရောက်မည် ဆိုသည်မှာ ခြိမ်းခြောက်ခြင်းမျှသာ ဖြစ်သည်။ ဘယ်သောအခါမျှ သက်ရောက်မည်မဟုတ်ဟု ထင်မှတ်ပြောဆိုခဲ့ကြ၏။

ယင်းသို့ ထင်မြင်ယူဆ ပြောဆိုကြသော ကာဖိရ်တို့ကို ချေပပြောဆိုစေရန်အတွက် အလ္လာဟ်အရှင်မြတ်က ကုရ်အာန်ကျမ်းမြတ် (၆း၆၇)၌ပင် တမန်တော်မြတ်အား မိန့်ကြားတော်မူခဲ့သည်မှာ အို-ကာဖိရ်အပေါင်းတို့၊ အသင်တို့ သွေဖည်ငြင်းဆိုကြသည့်အတွက် အပြစ်ဒဏ်သက်ရောက်စေခြင်း၊ ထိုအပြစ်ဒဏ်သည် မည်သို့မည်ပုံဖြစ်သည်၊ မည်သည့်အချိန် သက်ရောက်မည်၊ စသည်ဖြင့် အသေးစိတ် ရှင်းပြခြင်းများမှာ ကျွန်ုပ်၏တာဝန်မဟုတ်၊ ကျွန်ုပ်၏တာဝန်မှာ သတိပေးနှိုးဆော်ရန်သာ ဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ်(၆း၆၇)တွင် ပါရှိသည့်အတိုင်း အကြောင်းအရာ သတင်းအားလုံး ဖြစ်ပျက်မည့်အချိန်သည် အလ္လာဟ်အရှင်မြတ်၏ သဗ္ဗညုတဉာဏ်တော်တွင် သတ်မှတ်ပြီးဖြစ်၏။ အချိန်ကျရောက်လာသည့်အခါ ကျွန်ုပ်ပြောကြားခဲ့သည်များကို အဘယ်မျှမှန်ကန်သည်ကို အသင်တို့ကိုယ်တိုင် သိရှိကြမည်။

حَدِيثٍ غَيْرِهِۦ ۚ وَإِمَّا يُنسِيَنَّكَ الشَّيْطَٰنُ فَلَا تَقْعُدْ بَعْدَ الذِّكْرَىٰ مَعَ الْقَوْمِ الظَّٰلِمِينَ ﴿٦٨﴾

ငင်းပြင် အကယ်၍ ရှိုင်တွာန်သည် အသင့်အား မေ့လျော့စေခဲ့သော် ပြန်လည် သတိရရှိပြီး နောက်တွင်မူ အသင်သည် *မတော်မတရားပြုမူသောသူတို့နှင့်အတူ မထိုင်ပါလေနှင့်။* [၁]

وَمَا عَلَى الَّذِينَ يَتَّقُونَ مِنْ حِسَابِهِم مِّن شَيْءٍ وَلَٰكِن ذِكْرَىٰ لَعَلَّهُمْ يَتَّقُونَ ﴿٦٩﴾

၆၉။ ငင်းပြင် (ရှရီအတ်၏ တားမြစ်ချက်များမှ) ကြဉ်ရှောင်ကြကုန်သောသူတို့အပေါ်၌ “မုရှိရစ်က်” တို့နှင့်ပတ်သက်၍ *စစ်ဆေးမေးမြန်းခြင်းသည် လုံး၀ မရှိချေ။* [၂] သို့ရာတွင် ထိုသူတို့အပေါ်၌ ဆုံးမဩ၀ါဒ စကားပြောရန် တာ၀န်ကားရှိပေသည်၊ သို့မှသာလျှင် ထိုသူများသည် ရှောင်ကြဉ်ကြပေမည်။

وَذَرِ الَّذِينَ اتَّخَذُوا دِينَهُمْ لَعِبًا وَلَهْوًا وَغَرَّتْهُمُ الْحَيَوٰةُ الدُّنْيَا ۚ وَذَكِّرْ بِهِۦٓ أَن تُبْسَلَ

၇၀။ ငင်းပြင် အသင်သည် အကြင်သူများကို စွန့်လွှတ်ထားပါလေ။ ထိုသူများသည် *မိမိတို့၏ ‘ဒီန်’သာသနာကို ကစားခုန်စားစရာ၊ ပျော်ရွှင်မြူးထူးစရာ ပြုလုပ်ထားကြ၏။* [၃] ငင်းပြင် ထိုသူတို့ကို ဤပစ္စုပ္ပန် လောကီဘ၀သည် လှည့်ဖြားထား၏။

---

(၁) မုလ်ဟစ်ဒ်များနှင့် အခြားသော ကာဖိရ် အားလုံးတို့သည် ကုဖ်ရ်၊ ရှစ်ရ်က်တို့ကိုငင်း၊ အလ္လာဟ်အရှင်မြတ်နှင့် စပ်လျဉ်း၍မပြောဆိုအပ်သောအရာကိုငင်း၊ ထုတ်ဖော်ပြောဆိုပြုလုပ်ကြသည့်အခါတွင် ငင်းတို့နှင့်အတူ နေထိုင်ခြင်းကိုစွန့်လွှတ်ရမည်မှာ ကျွန်ုပ်တို့၏တာ၀န်ဖြစ်သည်ကို ဤမုကဒ္ဒပါဠ်တော်သည် ညွှန်ပြလျက်ရှိပေသည်။(ဂျံဆွဲဆွာဆွဲ)

(၂) မွတ်စ်လင်မ်တို့သည် အချို့သောနေရာများတွင် အခြေအနေအရ အကြောင်းကြောင်းတွေကြောင့် ကာဖိရ်များနှင့် လုံး၀အဆက်ဖြတ်ရန် မဖြစ်နိုင်သည်လည်းရှိ၏။ ဥပမာ-အစ္စလာမ်သာသနာ ထွန်းကားခါစ အချိန်တွင် မွတ်စ်လင်မ်တို့သည် ကအ်ဗဟ် ကျောင်းတော်တွင် သွားရောက်၍ ဆလာတ်၀တ်ပြုကြ၏။ တ၀ါဖ် လှည့်ပတ်ကြ၏။ ထိုအချိန်မှာပင် ကာဖိရ် မုရှိရစ်က်တို့သည်လည်း ကအ်ဗဟ် ကျောင်းတော်တွင်းသို့ ၀င်ထွက် သွားလာလျက်ရှိကြ၏။ ဖရုဿ၀ါစာ ကြမ်းကြုတ်သောစကားများ ပြောဆိုကြ၏။ ကဲ့ရဲ့ပြစ်တင်ပြောဆိုကြ၏။ ယခုအခါတွင်လည်း များစွာသော နေရာဌာနများတွင် မွတ်စ်လင်မ်တို့သည် ကာဖိရ်များနှင့် အခြေအနေအရ မလွှဲမရှောင်သာ တွေ့ဆုံသွားလာနေကြသည့်အတွက် မွတ်စ်လင်မ်တို့၌ တစုံတရာ အပြစ်မရှိချေ။ ယင်းကဲ့သို့ ဖရုဿ၀ါစာ ကြမ်းကြုတ်သောစကားပြောဆိုသော ကာဖိရ်များ၌သာလျှင် အပြစ်ရှိပေသည်။ သို့ရာတွင် မွတ်စ်လင်မ်တို့သည် မိမိတို့တတ်စွမ်းနိုင်သမျှ ကာဖိရ်တို့အား တရားဓမ္မ ဟောကြားကြရပေမည်။ ယင်းသို့ တရားဓမ္မဟောကြားခြင်းဖြင့် ကာဖိရ်တို့သည် တရားရရှိနိုင်ကြပေမည်။ ကာဖိရ်များ တရားမရရှိကြစေကာမူ မွတ်စ်လင်မ်တို့သည် မိမိတို့တရားဓမ္မ ဟောကြားခြင်း၏ ကုသိုလ်အကျိုးကိုမူကား မုချရရှိကြပေမည်။ မာဂျိဒီ၊ အ-၂၊ စ-၂၆၅၊ အအ-၁၀၃

نَفْسٌۢ بِمَا كَسَبَتْ ۖ لَيْسَ
لَهَا مِن دُونِ ٱللَّهِ وَلِىٌّ
وَلَا شَفِيعٌ وَإِن تَعْدِلْ
كُلَّ عَدْلٍ لَّا يُؤْخَذْ مِنْهَآ ۗ
أُو۟لَٰٓئِكَ ٱلَّذِينَ أُبْسِلُوا۟ بِمَا
كَسَبُوا۟ ۖ لَهُمْ شَرَابٌ مِّنْ
حَمِيمٍ وَعَذَابٌ أَلِيمٌۢ
بِمَا كَانُوا۟ يَكْفُرُونَ ٧٠

သို့ရာတွင် တဦးတယောက်သော သူသည် မိမိ အပြုအမူတို့ကြောင့် ဖမ်းဆီးခြင်းကို မခံရလေအောင် အသင်သည် (၎င်းတို့အား) ဤ (ကုရ်အာန်ကျမ်းတော်မြတ်)ဖြင့် ဆုံးမလျက်လည်း ရှိပါလေ။ (ယင်းသို့ဖြစ်လျှင်) ထိုသူတို့၏အဘို့မှာ အလ္လာဟ်အရှင်မြတ်အပြင် ကိစ္စအဝဝကို ဆောင်ရွက်ပေးမည့်သူဟူ၍၎င်း၊ (အပြစ်မှချမ်းသာမှုရရှိစေရန်) ကြားဝင်အသနားခံပေးမည့်သူ ဟူ၍၎င်း၊ (မည်သူ တဦးတယောက်မျှ) ရှိလိမ့်မည် မဟုတ်ပေ။ ထိုမှတပါး အကယ်၍ ထိုသူသည် အားလုံးသောအစားထိုးခြင်းကို အစားထိုးငြားသော်လည်း ၎င်း၏ထံမှ လက်ခံခြင်း ရှိလိမ့်မည် မဟုတ်ချေ။

(မိမိတို့၏ ဘာသာသာသနာကို ကစားစရာ ပျော်ရွှင်မြူးထူးစရာ ပြုလုပ်ထားသော) ဤသူများပင်လျှင် အကြင်သူများတည်း။ ထိုသူတို့သည် မိမိတို့၏အပြုအမူတို့ကြောင့် ဖမ်းဆီးခြင်းကို ခံကြရလေပြီ။ ၎င်းတို့အဘို့ ၎င်းတို့ သွေဖည်ငြင်းပယ်ခဲ့ကြသည့်အတွက်ကြောင့် သောက်ရန် အလွန်ပူလောင်သောရေနှင့် အလွန် ပြင်းပြနာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်သည် အဆင်သင့်ရှိပေသည်။

---

⑨ (၁) သာဝကကြီး အဗ်ဒုလ္လာဟ်အစ်ဗ်နုအဗ္ဗာစ် သခင်က ဖွင့်ဆိုပြောကြားခဲ့သည်မှာ အလ္လာဟ်အရှင်မြတ်သည် အမျိုးသားတိုင်းအတွက် အီဒ်ပွဲတော်ကို ပြုလုပ်ထားတော်မူ၏။ ထိုအမျိုးသားများသည် ထိုပျော်ပွဲရွှင်ပွဲကို ရိုသေမြတ်နိုးကြ၏။ ထိုပျော်ပွဲရွှင်ပွဲနေ့တွင် ဝတ်ပြုကြ၏။ ၎င်းပြင် ထိုပျော်ပွဲရွှင်ပွဲကို အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရခြင်းဖြင့် စည်ကားသိုက်မြိုက်စေကြ၏။ ထို့နောက် လူများသည် (ထိုလူများအနက် များစွာသောသူများမှာ မုရှ်ရစ်က်များ၊ ကိတာဗီများ၊ ဖြစ်ကြ၏) မိမိတို့၏ပျော်ပွဲရွှင်ပွဲကို ပျော်ရွှင်မြူးထူးရာ ကစားစရာ ပြုလုပ်ကြလေသည်။ ယင်းသို့ ပြုလုပ်ရာတွင် မွတ်စ်လင်မ်များမပါကြချေ။ အဘယ်ကြောင့်ဆိုသော် မွတ်စ်လင်မ်များသည် မိမိတို့၏ အီဒ်ပွဲတော်ကို အလ္လာဟ်အရှင်မြတ် သတ်မှတ်ပြဋ္ဌာန်းထားတော်မူသည့်အတိုင်း ကျင်းပကြပေသည်။ ကဗီရ်။ အလ်မနာရ်။

(၂) ၎င်းပြင် အသင်သည် ဤသို့သောသူများကို လုံးဝ လွှဲဖယ် ရှောင်ကြဉ်ပါလေ၊ ➢➢

قُلْ أَنَدْعُوا مِن دُونِ اللَّهِ
مَا لَا يَنفَعُنَا وَلَا يَضُرُّنَا
وَنُرَدُّ عَلَىٰ أَعْقَابِنَا بَعْدَ
إِذْ هَدَانَا اللَّهُ كَالَّذِي
اسْتَهْوَتْهُ الشَّيَاطِينُ
فِي الْأَرْضِ حَيْرَانَ لَهُ أَصْحَابٌ
يَدْعُونَهُ إِلَى الْهُدَى
ائْتِنَا ۗ قُلْ إِنَّ هُدَى اللَّهِ
هُوَ الْهُدَىٰ ۖ وَأُمِرْنَا لِنُسْلِمَ
لِرَبِّ الْعَالَمِينَ ﴿٧١﴾

၇၁။ (အို-နဗီတမန်တော်) အသင်သည် (ထိုမိစ္ဆာဒိဋ္ဌိတို့အား ဤသို့)ပြောကြားပါလေ။ "ငါတို့သည် အလ္လာဟ်အရှင်မြတ်အပြင် (အသင်တို့ အလိုရှိသကဲ့သို့) ငါတို့အား အကျိုး ဖြစ်ထွန်းစေခြင်းကိုငင်း၊ အကျိုးယုတ်စေခြင်းကိုငင်း၊ မပြုစွမ်းနိုင်သောအရာများကို ကိုးကွယ်ကြရမည်လော။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် ငါတို့အား တရားလမ်းမှန်သို့ ပို့ဆောင်ပြီးနောက်တွင် ငါတို့သည် အကြင်သူ ကဲ့သို့ပင် မိမိတို့၏ခြေဖနောင့်ဖက်သို့ ပြန်လှည့်သွားကြရမည်လော။ ထိုသူအား ရှိုင်တွာန်သည် တောတွင်း၌ သွေးဆောင်ဖြားယောင်း၍ လမ်းမှားစေခဲ့ရာ ထိုသူသည် တွေဝေ အကြံအိုက်လျက် ရှိနေလေ၏။ ထိုသူ၌ မိတ်ဆွေ အပေါင်းအဖော်များလည်း ရှိ၏။ ထိုမိတ်ဆွေ အပေါင်းအဖော်များတို့သည် ထိုသူအား တရားလမ်းမှန်ရှိရာ "ငါတို့ထံလာပါလေ"ဟု ဖိတ်ခေါ်လျက် ရှိကြကုန်၏။

(အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား) "အလ္လာဟ်အရှင်မြတ် ညွှန်ကြား ပြသတော်မူသော တရားလမ်းသည်သာလျှင် ဧကန်စင်စစ် (ဖြောင့်မတ်မှန်ကန်သော) တရားလမ်း ဖြစ်သည်။

➤➤ ထိုသူများသည် မိမိတို့၏အကြင်သာသနာကို (ထိုသာသနာကိုနာယူခြင်းသည် ၎င်းတို့၏ ဖရသည့်တာဝန်ဖြစ်၏။(ဝါ) အစ္စလာမ်သာသနာကို) ပျော်ရွှင်မြူးထူးစရာ ကစားစရာပြုလုပ်ထားကြ၏။

ထာနဝီ၊စ-၁၀၆၊ အ-၃၊

(၃) ထိုသူများသည် မိမိတို့၏သာသနာရေးကိစ္စကို ကာမဂုဏ်အာရုံပေါ်၌ အခြေပြုထားကြ၏။ ၎င်းပြင် ထိုသူများသည် လက်ငင်းအားဖြင့်၎င်း၊ နောင်အခါ၌၎င်း၊ မည်သို့မျှအကျိုးကျေးဇူး မဖြစ်ထွန်းစေသော ကိစ္စများကို ဘာသာရေးကိစ္စများ ပြုလုပ်ထားကြ၏။ ဥပမာ-ရုပ်ပွားဆင်းတုကိုးကွယ်ခြင်း၊ ဗဟီရဟ်စာအိဗဟ်စသည့် တိရစ္ဆာန်များကို ဟရာမ်ဟူ၍ပညတ်ခြင်း။

ငင်းပြင် ငါတို့သည် စကြာဝဠာခပ်သိမ်းတို့ကို မွေးမြူဖန်ဆင်းတော်မူသော အရှင်မြတ်၏ အမိန့်တော်များကို (တသွေမတိမ်း) လိုက်နာရန် အမိန့်ပေးတော်မူခြင်းကိုလည်း ခံကြရလေပြီ ဟု ပြောကြားပါလေ။ ၁

၇၂။ ထိုမှတပါး (ငါတို့သည် အမိန့်ပေးတော်မူခြင်းကို ခံကြရသည်မှာ) "အသင်တို့သည် စွဲမြဲစွာ "ဆွလာတ်" ဝတ်ပြုကြလေကုန်။ ငင်းပြင် အသင်တို့သည် ထိုအရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ စင်စစ်သော်ကား အသင်တို့သည် ထိုအရှင်မြတ် ထံတော်သို့သာလျှင် စုရုံးကြရမည်။"

وَاَنْ اَقِيْمُوا الصَّلٰوةَ وَاتَّقُوْهُ ۗ وَهُوَ الَّذِيْٓ اِلَيْهِ تُحْشَرُوْنَ ﴿٧٢﴾

(၁) မွတ်စ်လင်မ်တို့၏တာဝန်မှာ လမ်းမှားသူများကို သွန်သင်ဆုံးမ၍ လမ်းမှန်ဘက်သို့ ယူဆောင်လာခြင်း အလ္လာဟ်အရှင်မြတ်အား ကျောခိုင်း၍ အခြားဘုရားများရှေ့တွင် ဦးချနေသူများအား တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်သို့ ဦးချစေရန် ကြိုးပမ်းခြင်းပင်ဖြစ်သည်။ သို့နောက် ထိုမွတ်စ်လင်မ်များနှင့် စပ်လျဉ်း၍ ယင်းသူတို့သည် အလ္လာဟ်အရှင်မြတ်အားသွေဖည်၍ ကျိုးပြစ်နှစ်ပါး မဖြစ်ပွားစေနိုင်သော ဘုရားများရှေ့မှောက်တွင် ဦးချကြလိမ့်မည်ဟူ၍ငင်း၊ သို့တည်းမဟုတ် မိစ္ဆာဝါဒီများနှင့် အတူနေထိုင်၍ တောင်ဟီဒ်နှင့် အီမာန်တည်းဟူသော ဖြောင့်မတ်မှန်ကန်သော လမ်းကိုစွန့်ပြီး "ရှရစ်ကဲ"၊ "ကုဖ်ရ်" ၏ အမှောင်တွင်းသို့ ပြန်လည်ဆင်းသက် သွားကြလိမ့်ဟူ၍သော်ငင်း၊ ထင်မြင်ခြင်းသည် အလျှင်း အဓိပ္ပါယ်မရှိချေ။

အကယ်၍ မပြောကောင်းမဆိုသာ ဤကဲ့သို့ ဖြစ်သွားခဲ့သည်ရှိသော် ထိုမွတ်စ်လင်မ်တို့၏ ဥပမာသည် အကြင်ခရီးသည်တစ်ဦးနှင့် တူပေမည်။ ထိုခရီးသည်သည် လမ်းစခန်းကို သိကျွမ်းသော မိမိ၏မိတ်ဆွေများနှင့် တောလည်တွင် ခရီးသွား၏။ ရုတ်တရက် "ဂျင်န်" နတ်ဆိုးများသည် ထိုသူအား မျက်စိလည် လမ်းမှားစေသဖြင့် ထိုသူသည် တောတွင်း၌ တဝဲလည်လည်ဖြစ်နေ၏။ ငင်း၏မိတ်ဆွေများသည် သနားကြင်နာစွာဖြင့် ထိုသူအား "လမ်းသည် ဤမှာရှိသည်၊ ငါတို့ထံလာခဲ့ပါ" ဟု ဟစ်ခေါ်လျက်ရှိကြ၏။ သို့ရာတွင် ထိုသူသည် ဆင်ခြင်တုံတရား ကင်းမဲ့၍ တွေဝေမိန်းမောနေသဖြင့် မိမိမိတ်ဆွေများ၏ ခေါ်သံကို ကြားလည်းမကြားနိုင်၊ နားလည်းမလည်နိုင်ဘဲ ဖြစ်နေ၏။

ထိုနည်းတူစွာ ဥပမာအတိုင်းပင် နောင်တမလွန် ဘဝသို့ သွားလျက်ရှိသော ခရီးသည်အတွက် ဖြောင့်မတ် မှန်ကန်သော လမ်းသည် အစ္စလာမ်နှင့် တောင်ဟီဒ်လမ်း ဖြစ်၏။ ငင်း၏ ခရီးသွားဖော် မိတ်ဆွေများမှာ တမန်တော်မြတ် နှင့် တမန်တော်မြတ်၏ နောက်လိုက် တပည့်သားများပင် ဖြစ်ကြသည်၏။ ကံဆိုး မိုးမှောင်ကျနေသော ထိုခရီးသည် ရှိုင်တွာန်များနှင့် လမ်းမှားသူများ၏ လက်တွင်းသို့ ကျရောက်၍ လမ်းမှားခြင်း တည်းဟူသော ကန္တာရ ခရီး၌ တဝဲလည်လည် ဖြစ်နေ၏။ ထိုအခါ ငင်းတို့၏ ခရီးသွားဖော်များ (ဖြစ်ကြသော တမန်တော်မြတ်နှင့်တမန်တော်မြတ်၏ နောက်လိုက်တပည့်သားတို့သည်) ငင်းအား လမ်းမှန်ဘက်သို့ ➢➢

وَهُوَ الَّذِیْ خَلَقَ السَّمٰوٰتِ وَالْاَرْضَ بِالْحَقِّ ؕ وَیَوْمَ یَقُوْلُ كُنْ فَیَكُوْنُ ؕ۬ قَوْلُهُ الْحَقُّ ؕ وَلَهُ الْمُلْكُ یَوْمَ یُنْفَخُ فِی الصُّوْرِ ؕ عٰلِمُ الْغَیْبِ وَالشَّهَادَةِ ؕ وَهُوَ الْحَكِیْمُ الْخَبِیْرُ ﴿۷۳﴾

၇၃။ ၎င်းပြင် ထိုအရှင်မြတ်သည် အကြင် အရှင်မြတ်ပင်ဖြစ်တော်မူ၏။ ထို အရှင်မြတ်သည် မိုးများကိုငှင်း၊ ပထဝီမြေကိုငှင်း၊ မှန်ကန်တိကျစွာဖြင့် ဖန်ဆင်းတော်မူခဲ့လေသည်။ ၎င်းပြင် ထိုအရှင်မြတ်က "ဖြစ်စေ" ဟူ၍ မိန့်ကြားတော်မူသောနေ့တွင် ဖြစ်သွားလတ္တံ့။

ထိုအရှင်မြတ်၏ စကားတော်သည် လေးနက် ထိရောက်သော စကားတော်ပင်ဖြစ်၏။ *၎င်းပြင် တံပိုးခရာ မှုတ်မည့်နေ့တွင် စိုးမိုး အုပ်ချုပ်ခြင်း (အာဏာ)သည် ထိုအရှင်မြတ်၌သာ ရှိအံ့။* ၁

(ထို အရှင်မြတ်သည်) အကွယ်၌ရှိသည် တို့ကိုငှင်း၊ ရှေ့မှောက်တွင် ရှိသည်တို့ကိုငှင်း၊ (အကြွင်းမဲ့) သိရှိတော်မူသောအရှင်မြတ် ဖြစ်တော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည် (ဟစ်ကမ်မက်) အမြော်အမြင်နှင့် ပြည့်စုံတော် မူသော အရှင် (အကြောင်းစုံတို့ကို အကြွင်းမဲ့) ကြားသိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ ဟစ်ခေါ်လျက် ရှိကြ၏။ သို့ရာတွင် ထိုသူသည် တစုံတရာကိုမျှ မကြားချေ၊ နားလည်းမလည်နိုင်ချေ။

အထက်ပါ ဥပမေယျအတိုင်း မွတ်စ်လင်မ်တို့သည် မျက်စိလယ်လမ်းမှားသော ထိုခရီးသည်ကဲ့သို့ ဖြစ်နိုင်ပါမည်လော၊ အလျှင်း ဖြစ်နိုင်ကြမည် မဟုတ်ချေ။ (ဤသည့်အချက်ကိုပင် ဤမုကဒ္ဒပါဌ်တော်၌ မိန့်ဆိုတော်မူထားခြင်း ဖြစ်ပေသည်)။

၁ အလ္လာဟ်အရှင်မြတ်၏ စိုးမိုးအုပ်ချုပ်မှုသည် အမြဲတစေ ကမ္ဘာအဝှန်းပေါ်၌ တည်လျက်ရှိပေသည်။ ကိယာမတ်နေ့သည် အခြေအနေဖြစ်စဉ် ဖြစ်ရပ်အားလုံးတို့ကို အမှန်အကန်အတိုင်း ဖော်ထင်ရှားစေမည့်နေ့ ဖြစ်သည်။ ထိုနေ့တွင် အလ္လာဟ်အရှင်မြတ်၏ စိုးမိုးအုပ်ချုပ်မှုသည် မျက်ဝါးထင် ထင်ထင်ရှားရှား ပေါ်လွင်လာပေမည်။ ထိုနေ့တွင် အရှင်မြတ်၏စိုးမိုးအုပ်ချုပ်မှုသာ တည်ရှိပေမည်။ ထိုအုပ်ချုပ်မှုတွင် မည်သူတဦးတယောက်မျှ တွဲဘက်ပါဝင်မည် အလျှင်း မဟုတ်ပေ။

ဤသည်ကို ထောက်ရှုခြင်းအားဖြင့် ကိယာမတ်နေ့၌ အလ္လာဟ်အရှင်မြတ်၏ စိုးမိုးအုပ်ချုပ်မှုတွင် အခြားသောသူများလည်း တွဲဘက်ပါဝင်သည်ဟု အချို့ မုရှစ်ရစ်ကမ်များ၏ ယူဆချက်မှာ မှားယွင်းကြောင်း ကောင်းစွာသိရှိရပေသည်။ မာဂျိဒီ၊ အ-၂၊ စ-၂၉၇၊ အအ-၁၁၂၊

وَاِذْ قَالَ اِبْرٰهِيْمُ لِاَبِيْهِ اٰزَرَ اَتَتَّخِذُ اَصْنَامًا اٰلِهَةً ۚ اِنِّيْٓ اَرٰىكَ وَقَوْمَكَ فِيْ ضَلٰلٍ مُّبِيْنٍ ﴿٧٤﴾

၇၄။ ထို့ပြင်တဝ (အို-နဗီတမန်တော်၊ အသင်သည် ၎င်းတို့အား ပြန်လည် ပြောကြားပါလေ) တရံရောအခါ (နဗီတမန်တော်)အီဗ်ရာဟီမ်သည် မိမိဘခင် "အာဇရ်" အား (ဤသို့) ပြောကြားခဲ့လေသည်။ "အသင်သည် ရုပ်ပွား ဆင်းတုများကို ကိုးကွယ်ရာဘုရားများပြုလုပ်ပါသလော။

ဧကန်စင်စစ် အကျွန်ုပ်သည် အသင်နှင့်တကွ အသင်၏အမျိုးသားတို့ကိုပါ အလွန်ထင်ရှားသောလမ်းမှားခြင်း၌ (ရောက်ရှိနေကြသည်ကို) တွေ့မြင်ရပါသည်"။

**တနည်း။**

၎င်းပြင် (အကြင်အချိန်အခါကို ပြန်လည်သတိရပါလေ၊) တရံရောအခါ တမန်တော်အီဗ်ရာဟီမ် (အလိုင်အစ္စလာမ်)က မိမိ၏ဘခင် "အာဇရ်" အား ပြောကြားခဲ့သည်မှာ (အို-ဘခင်) ဘခင်သည် ရုပ်ပွား ဆင်းတုများကို ကိုးကွယ်ရာဘုရားများ ပြုလုပ်ထားပါသလော။

မုချဧကန် အကျွန်ုပ်သည် ဘခင်အား၎င်း၊ ဘခင်၏ အမျိုးသားများအား၎င်း၊ ထင်ရှားသောလမ်းမှားခြင်း၌ (သက်ရောက်နေကြသည်ကို) တွေ့မြင်နေပါသည် ဟု ပြောကြားခဲ့၏။

وَكَذٰلِكَ نُرِيْٓ اِبْرٰهِيْمَ مَلَكُوْتَ السَّمٰوٰتِ وَالْاَرْضِ وَلِيَكُوْنَ مِنَ الْمُوْقِنِيْنَ ﴿٧٥﴾

၇၅။ ထိုနည်းတူစွာငါအရှင်မြတ်သည် အီဗ်ရာဟီမ်အား လေးနက်စွာ သက်ဝင်ယုံကြည်သော သူတို့တွင် အပါအဝင် ဖြစ်စေခြင်းငှာ၊ ငါအရှင်မြတ်သည် မိုးများနှင့်ကမ္ဘာမြေကို စိုးပိုင်တော်မူကြောင်းကို ပြသတော်မူခဲ့လေသတည်း။

فَلَمَّا جَنَّ عَلَيْهِ الَّيْلُ رَاٰ كَوْكَبًا ۚ قَالَ هٰذَا رَبِّيْ ۚ فَلَمَّآ اَفَلَ قَالَ لَآ اُحِبُّ الْاٰفِلِيْنَ ﴿٧٦﴾

၇၆။ သို့ဖြစ်ပေရာ ညဉ့်(၏ အမိုက်မှောင်)သည် ထို(အီဗ်ရာဟီမ်)အား ဖုံးလွှမ်းသောအခါ ထို (တမန်တော် အီဗ်ရာဟီမ်)သည် ကြယ်တစ်လုံးကို တွေ့မြင်လေ၏။ ထိုအခါ တမန်တော်အီဗ်ရာဟီမ်က "ဤသည် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်ဖြစ်တော်မူသည်" ဟု ဆိုခဲ့၏။

တဖန် ထိုကြယ်ပျောက်ကွယ်သွားသောအခါ (တမန်တော်အီဗ်ရာဟီမ်)က ငါသည်ကွယ်ပျောက်သွားသောအရာများကို မနှစ်သက်ပေ" ဟုပြောကြားခဲ့၏။

فَلَمَّا رَاَ الْقَمَرَ بَازِغًا قَالَ هٰذَا رَبِّيْ ۚ فَلَمَّآ اَفَلَ قَالَ لَئِنْ لَّمْ يَهْدِنِيْ رَبِّيْ لَاَكُوْنَنَّ مِنَ الْقَوْمِ الضَّآلِّيْنَ ﴿٧٧﴾

၇၇။ တဖန် (တမန်တော် အီဗ်ရာဟီမ်သည်) လကို လင်းဝင်းတောက်ပစွာ တွေ့မြင်သောအခါ "ဤသည် ငါ့အား ဖန်ဆင်းမွေးမြူသောအရှင်ဖြစ်သည်" ဟု ပြောဆိုပြန်၏။

သို့ရာတွင် ထိုလသည် ကွယ်ပျောက်သွားခဲ့လေသောအခါ (တမန်တော် အီဗ်ရာဟီမ်က) "အကယ်၍သာ ငါ့အားမွေးမြူတော်မူသောအရှင်မြတ်သည် ငါ့ကို တရားလမ်းမှန်သို့ ပို့ဆောင်တော်မူခြင်း မရှိခဲ့ပါမူ၊ ကျွန်ုပ်သည် လမ်းမှားသောသူတို့တွင် မုချအပါအဝင်ဖြစ်သွားမည်" ဟုပြောကြားခဲ့လေသည်။

فَلَمَّا رَاَ الشَّمْسَ بَازِغَةً قَالَ هٰذَا رَبِّيْ هٰذَآ اَكْبَرُ ۚ فَلَمَّآ اَفَلَتْ قَالَ يٰقَوْمِ اِنِّيْ بَرِيْٓءٌ

၇၈။ တဖန် (တမန်တော်အီဗ်ရာဟီမ်သည်) သူရိယနေကို ထွန်းလင်း တောက်ပစွာ မြင်လေပြန်သောအခါ (အသင်တို့၏ ထင်မြင်ယူဆချက်အရ) "ဤသည်သာလျှင် ငါ့အား ဖန်ဆင်းတော်မူသောအရှင် ဤသည်သာလျှင် အကြီးဆုံးဖြစ်သည်" ဟု ပြောဆိုခဲ့ပြန်၏။

مِّمَّا تُشۡرِكُونَ ٧٨

သို့ရာတွင် ထိုသူရိယနေသည်လည်း ကွယ်ပျောက်သွားသောအခါ (တမန်တော် အီဗ်ရာဟီမ်က) အို–ငါ၏အမျိုးသားအပေါင်းတို့၊ ငါသည် အသင်တို့ တွဲဖက်ယှဉ်ပြိုင် ကိုးကွယ်လျက်ရှိကြသောအရာများမှ လုံးဝလွတ်ကင်းသည်" ဟုပြောကြားခဲ့လေသည်။

إِنِّي وَجَّهۡتُ وَجۡهِيَ لِلَّذِي فَطَرَ ٱلسَّمَٰوَٰتِ وَٱلۡأَرۡضَ حَنِيفٗاۖ وَمَآ أَنَا۠ مِنَ ٱلۡمُشۡرِكِينَ ٧٩

၇၉။ ဧကန်စင်စစ်ငါသည် မိမိမျက်နှာကို [၁] မိုးများနှင့်ကမ္ဘာမြေကို ဖန်ဆင်းတော်မူသော အရှင်မြတ်ဖက်သို့သာလျှင် *အာရုံစူးစိုက်လျက်* [၂] လှည့်ခဲ့လေပြီ၊ စင်စစ်သော်ကား ငါသည် (တစုံတရာကို အလ္လာဟ် အရှင်မြတ်နှင့်) တွဲဖက်ယှဉ်ပြိုင် ကိုးကွယ်သော သူတို့အနက်မှာ မဟုတ်ပြီ။

**တနည်း။**

မုချဧကန် ကျွန်ုပ်သည် (အခြားသောလမ်းစဉ်များကိုစွန့်လွှတ်၍) တစိတ်တလတ်တည်း ဖြောင့်မတ်တည်ကြည်သူအဖြစ်ဖြင့် မိမိမျက်နှာကို မိုးကောင်းကင်များနှင့် ကမ္ဘာမြေကြီးကို ဖန်ဆင်းတော်မူသော အရှင်မြတ်ဘက်သို့ လှည့်ပါပြီ၊ ၎င်းပြင် ကျွန်ုပ်သည် မုရှ်ရစ်ကီများတွင် အပါအဝင် မဟုတ်ပါ။

وَحَآجَّهُۥ قَوۡمُهُۥۚ قَالَ أَتُحَٰٓجُّوٓنِّي فِي ٱللَّهِ

၈၀။ ၎င်းနောက် ထို(တမန်တော် အီဗ်ရာဟီမ်)၏ အမျိုးသားများသည် ထို(တမန်တော် အီဗ်ရာဟီမ်) နှင့် အငြင်းအခုံ ပြုကြလေသည်။

---

(၁) အလ္လာဟ်အရှင်မြတ်ဘက်သို့ မျက်နှာလှည့်ခြင်း ဟူသည် ထိုအရှင်မြတ်၏ အမိန့်တော်ကို နာခံခြင်းကို တင်စား၍ ဆိုထားခြင်းဖြစ်သည်။ (ကဗီရ်)

(၂) "ဟနီဖ်" ဟူသည် လမ်းမှားခြင်းကိုပယ်၍ ဖြောင့်မတ်မှန်ကန်ခြင်းကို နှစ်ခြိုက်ခြင်းကိုဆို၏။ "ဟနဖ်" ဟူသည် ဖြောင့်မတ်မှန်ကန်ခြင်းကို နှစ်ခြိုက်ခြင်းကိုဆို၏။ "ဟနီဖ်" ဟူသည် လမ်းမှားခြင်းကိုပယ်၍ ဖြောင့်မတ်မှန်ကန်ခြင်းကို နှစ်ခြိုက်သောသူကိုဆို၏။ (ရာဃိဗ်)

وَقَدْ هَدٰىنِ ۚ وَلَآ أَخَافُ مَا تُشْرِكُونَ بِهِۦٓ إِلَّآ أَن يَشَآءَ رَبِّى شَيْـًٔا ۗ وَسِعَ رَبِّى كُلَّ شَىْءٍ عِلْمًا ۗ أَفَلَا تَتَذَكَّرُونَ ﴿٨٠﴾

ထိုအခါ (တမန်တော်အီဗ်ရာဟီမ်)က အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ပင် ငါနှင့် အငြင်းအခုံ ပြုလုပ်ကြသလော။ အမှန်မှာ ထိုအရှင်မြတ်သည် ငါ့အား တရားလမ်းမှန်ကို ပြတော်မူပြီး ဖြစ်သည်။

၎င်းပြင် ငါသည် အသင်တို့ ယှဉ်တွဲကိုးကွယ် *ကြသောအရာများကို မကြောက်ပေ။* [၁] သို့ရာတွင် *ငါ၏အရှင်သည်ပင် တစုံတရာကို အလိုရှိတော်မူပါသော်* [၂] (ဖြစ်နိုင်၏။) ငါ၏အရှင်သည် အရာခပ်သိမ်းတို့ကို အသိပညာအားဖြင့် ဝန်းခြုံလျက်ရှိတော်မူသည်။ သို့ပါလျက် အသင်တို့သည် သတိမမူကြပါလေ။

وَكَيْفَ أَخَافُ مَآ أَشْرَكْتُمْ وَلَا تَخَافُونَ أَنَّكُمْ أَشْرَكْتُم بِٱللَّهِ مَا لَمْ يُنَزِّلْ بِهِۦ عَلَيْكُمْ سُلْطَٰنًا ۚ فَأَىُّ ٱلْفَرِيقَيْنِ أَحَقُّ بِٱلْأَمْنِ ۖ إِن كُنتُمْ تَعْلَمُونَ ﴿٨١﴾

**၈၁။** ကျွန်ုပ်သည် အသင်တို့ တွဲဖက် ကိုးကွယ်ကြသောအရာများကို အဘယ်ကြောင့် ကြောက်ရမည်နည်း။ အမှန်စင်စစ်အားဖြင့် အသင်တို့သည် အကြင်အရာများကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်၍ ကိုးကွယ်ကြ၏။ ၎င်းအရာများနှင့်စပ်လျဉ်း၍ ထိုအရှင်မြတ်သည် အသင်တို့ထံ မည်သည့်သက်သေသာဓကကိုမျှ ချပေးသနားတော်မူခဲ့သည် မဟုတ်ပေ။ (ဤသို့ပြုလုပ်ကြသည်ကိုပင်) အသင်တို့ မကြောက်မရွံ့ကြပေ။

---

(၁) တမန်တော် အီဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)၏ အမျိုးသားများက တမန်တော်အီဗ်ရာဟီမ်အား "အသင်သည် ကျွန်ုပ်တို့၏ ကိုးကွယ်ရာများကို မကောင်းပြောဆိုနေပေရာ ထိုကိုးကွယ်ရာများသည် အသင့်၌ ကုဋ္ဌနူနာရောဂါဖြစ်ပွားစေကြမည်။ သို့မဟုတ် အသင့်အား ရူးသွပ်စေကြမည်ကို ကျွန်ုပ်တို့ စိုးရိမ်ကြပါသည်" ဟု ခြိမ်းခြောက်ပြောဆိုကြသည့်အခါ တမန်တော်အီဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)က "ကျွန်ုပ်သည် အသင်တို့ ယှဉ်တွဲကိုးကွယ်ကြသောအရာများကိုမကြောက်ပါ"ဟု ပြန်လည်ချေပပြောကြားတော်မူခဲ့လေသည်။ အီဗ်နူကဆီရ်၊ အ-၇၊စ-၁၆၅၊

(၂) "ကျွန်ုပ်သည် အသင်တို့ ယှဉ်တွဲကိုးကွယ်ကြသောအရာများကို မကြောက်ပါ၊ သို့ရာတွင် ကျွန်ုပ်၏အရှင်သည် တစုံတရာကို အလိုရှိတော်မူခဲ့ပါသော်" ဟူသော မုကဒ္ဒပါဌ်တော်၏အလိုသဘောမှာ တမန်တော်အီဗ်ရာဟီမ်က ➤➤

သို့ဖြစ်ရာ(အုပ်စုနှစ်စု)အနက် မည်သည့်အုပ်စုသည် ဘေးရန်ကင်းငြိမ်းခြင်းကို ပိုမို၍ ထိုက်သနည်း၊ အကယ်၍အသင်တို့သိကြပါလျှင် (ပြောကြလေကုန်)။

**တနည်း။**

၎င်းပြင် ငါသည် အသင်တို့ တွဲဖက်ကိုးကွယ်ကြသည်များကို အသို့လျှင် ကြောက်ရွံ့ရပါမည်နည်း။ အမှန်စင်စစ်မူကား အသင်တို့သည် မိမိတို့အပေါ်၌ အလ္လာဟ်အရှင်မြတ်က သက်သေသာဓက တစုံတရာမျှပင် အလျင်း ချပေးသနားတော်မူခြင်း မပြုခဲ့သော အရာများကို ထိုအရှင်မြတ်နှင့် တွဲဖက်ရှိုင်းယှဉ်ကိုးကွယ်နေကြသည် အမှန် ဖြစ်ပါလျက်နှင့်ပင် ကြောက်ရွံ့ စိုးရိမ်ကြသည် မရှိချေ။

သို့ဖြစ်ပေရာ အုပ်စုနှစ်စုအနက် မည်သည့်အုပ်စုကား ဘေးရန်ကင်းငြိမ်းခြင်းနှင့် ပိုမို၍ ထိုက်သည်ကို အသင်တို့သည် အကယ်၍ သိရှိကြပါလျှင် (ပြော၍ပြကြလေကုန်)။

၈၂။ အကြင်သူတို့သည် "အီမာန်" သက်ဝင်ယုံကြည်ကြ၏။ ၎င်းပြင် ထိုသူများသည် မိမိတို့ "အီမာန်" သက်ဝင်ယုံကြည်မှုကို (ရှစရစ်က်)တွဲဖက်ကိုးကွယ်မှုနှင့် ၁ ရောနှောခြင်းကိုလည်းမပြုခဲ့ကြချေ။

اَلَّذِيْنَ اٰمَنُوْا وَلَمْ يَلْبِسُوْٓا اِيْمَانَهُمْ بِظُلْمٍ اُولٰٓئِكَ لَهُمُ

>> မိမိ၏အမျိုးသားများအား "ကျွန်ုပ်သည် အသင်တို့ ယှဉ်တွဲကိုးကွယ်ကြသော အရာများကို ဘယ်သောအခါမျှ မကြောက်ပါ၊ အဘယ်ကြောင့်ဆိုသော် ထိုအရာများသည် တစုံတရာ နစ်နာဆုံးရှုံးအောင် ပြုလုပ်နိုင်ကြသည်မဟုတ်၊ "သို့ရာတွင် ကျွန်ုပ်၏အရှင်က တစုံတရာ အလိုရှိတော်မူခဲ့ပါသော် ဥပမာ–ကျွန်ုပ်သည် အပြစ်တစုံတရာ ကျူးလွန်မိခဲ့သည်ရှိသော် ကျွန်ုပ်၏အရှင်သည် ကျွန်ုပ်အား ပြစ်ဒဏ်ပေးနိုင်ပေသည်ဟူ၏။

(၁) အဗ်ဒုလ္လာဟ်ထံမှတဆင့် ကြားသိရသည်မှာ ( اَلَّذِيْنَ اٰمَنُوْا وَلَمْ يَلْبِسُوْٓا اِيْمَانَهُمْ بِظُلْمٍ )ဟူသောမုဗာရက်ပါဠိတော်ကျရောက်လာသည့်အခါ တမန်တော်မြတ်၏ဆွဟာဗဟ် သာဝကကြီးများအတွက် ရင်လေးဘွယ်ရာ ဖြစ်လာလေရာ သာဝကကြီးများက တမန်တော်မြတ်အား ကျွန်တော်မျိုးတို့တွင် မိမိကိုယ်ကိုမိမိမကျူးလွန်ခဲ့သူ >>

الْأَمْنُ وَهُمْ مُّهْتَدُونَ ﴿٨٢﴾

ဘေးရန် ကင်းငြိမ်းခြင်းသည် ထိုသူတို့အတို့သာလျှင်ရှိ၏။ ၎င်းပြင် ထိုသူတို့သည်သာလျှင် ဖြောင့်မတ်မှန်ကန်သော တရားလမ်းကို ရရှိသောသူများ ဖြစ်ကြကုန်သတည်း။

وَتِلْكَ حُجَّتُنَآ ءَاتَيْنَٰهَآ إِبْرَٰهِيمَ عَلَىٰ قَوْمِهِۦ ۚ نَرْفَعُ دَرَجَٰتٍ مَّن نَّشَآءُ ۗ إِنَّ رَبَّكَ حَكِيمٌ عَلِيمٌ ﴿٨٣﴾

၈၃။ ဤသည် ငါအရှင်မြတ်၏သက်သေ သာဓကဖြစ်သည်၊ ငါအရှင်မြတ်သည်ထိုသက်သေသာဓကကို (တမန်တော်)အီဗ်ရာဟီမ်အား ၎င်း၏အမျိုးသားများနှင့်ပြိုင်ဆိုင်ရာတွင် (အနိုင်ရစေရန်အလို့ငှာ) ချီးမြှင့်တော်မူခဲ့၏။ ငါအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား ဂုဏ်ဒြပ်များချီးမြှင့်တော်မူလေသည်။

စင်စစ်ဧကန် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အမြော်အမြင်နှင့်ပြည့်စုံတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော်မူသောအရှင် ဖြစ်တော်မူပေသည်။

وَوَهَبْنَا لَهُۥٓ إِسْحَٰقَ وَيَعْقُوبَ ۚ كُلًّا هَدَيْنَا ۚ وَنُوحًا هَدَيْنَا مِن قَبْلُ ۖ وَمِن ذُرِّيَّتِهِۦ دَاوُۥدَ وَسُلَيْمَٰنَ وَأَيُّوبَ وَيُوسُفَ وَمُوسَىٰ

၈၄။ ၎င်းပြင် ငါအရှင်သည် ထို(တမန်တော်)အီဗ်ရာဟီမ်အား(သားတော် တမန်တော်)"အစ္စဟာက်" နှင့် (မြေးတော် တမန်တော်)"ယအ်ကူဗ်" တို့ကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။

ငါအရှင်မြတ်သည် (ထိုတမန်တော် "အစ္စဟာက်" တမန်တော် "ယအ်ကူဗ်") အသီးသီးတို့အား တရားလမ်းမှန်သို့ ပို့ဆောင်တော်မူခဲ့၏။

➤➤ မည်သူရှိပါအံ့နည်းဟု လျှောက်ထားကြလေသည်။ ထိုအခါ တမန်တော်မြတ်က "အသင်တို့ ထင်ကြသကဲ့သို့ မဟုတ် 'ဇူလ်မ်' ဟူသောပုဒ်၏ အလိုသဘောမှာ လွတ်က်မာန်က မိမိ၏သားအား "အသင်သည် အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲ၍မကိုးကွယ်ပါလင့်၊ မုချဧကန် 'ရှစ်ရ်က်' ပြုလုပ်ခြင်းသည် အကြီးဆုံးသော 'ဇူလ်မ်' ကျူးလွန်ခြင်းပင်ဖြစ်သည်' ဟူသော ဩဝါဒတွင် ပါသည့် အလိုသဘောပင်ဖြစ်သည်ဟု မိန့်ကြားတော်မူလေသည်။
(အီဗ်နူဂျရီရ်) အ-၇၊ စ-၁၆၈၊

وَهٰرُوْنَ ۭ وَكَذٰلِكَ نَجْزِي الْمُحْسِنِيْنَ ﴿٨٤﴾

ထိုနည်းတူ ငါအရှင်မြတ်သည် (တမန်တော် အီဗ်ရာဟီမ်)အလျောင် ရှေးယခင်က တမန်တော် နူဟ် အား တရားလမ်းမှန်သို့ ပို့ဆောင်တော်မူခဲ့ပြီးဖြစ်၏။ ထိုမှတပါး (ငါအရှင်မြတ်သည် ထိုအီဗ်ရာဟီမ်)၏ သားမြေးတို့အနက်မှ (တမန်တော်)ဒါဝူဒ်၊ (တမန်တော်) စိုလိုင်မန်၊ (တမန်တော်) အိုင်ယူဗ်၊ (တမန်တော်) ယူစွတ်ဖ်၊ (တမန်တော်) မူစာနှင့် (တမန်တော်) ဟာရုန် တို့အား(လည်း တရားလမ်းမှန် သို့ ပို့ဆောင်တော် မူခဲ့လေသည်)။

စင်စစ်သော်ကား ငါ အရှင်မြတ်သည် သူတော်စင် သူတော်ကောင်းတို့အား ဤနည်းအတိုင်း ပင် အကျိုးပေးလေ့ ရှိတော်မူ၏။

وَزَكَرِيَّا وَيَحْيٰى وَعِيْسٰى وَاِلْيَاسَ ۭ كُلٌّ مِّنَ الصّٰلِحِيْنَ ﴿٨٥﴾

၈၅။ ထို့ပြင်တဝ (ငါအရှင်မြတ်သည်)(တမန်တော်) ဇကရီယာ၊(တမန်တော်)ယဟ်ယာ၊ (တမန်တော်)အီစာ နှင့် (တမန်တော်)အစ်လ်ယာစ်၊ တို့အား(လည်း တရား လမ်းမှန်သို့ ပို့ဆောင်တော်မူခဲ့၏။ ထိုနဗီတမန်တော်) အသီးသီးတို့သည် သူတော်စင်တို့ အနက်မှပင် ဖြစ်ကြကုန်သတည်း။

وَاِسْمٰعِيْلَ وَالْيَسَعَ وَيُوْنُسَ وَلُوْطًا ۭ وَكُلًّا فَضَّلْنَا عَلَى الْعٰلَمِيْنَ ﴿٨٦﴾

၈၆။ (ငါအရှင်မြတ်သည်တမန်တော်) အစ္စမာအီလ်၊ (တမန်တော်)အလ်ယစအ်၊ (တမန်တော်)ယူနွတ်စ်နှင့် (တမန်တော်)လူတွ် တို့အား(လည်း တရားလမ်းမှန်သို့ ပို့ဆောင်တော်မူခဲ့၏။)

၎င်းပြင် ငါအရှင်မြတ်သည် (ထိုနဗီတမန် တော်) အသီးသီးတို့အား စကြာဝဠာ အပေါင်းတို့ အပေါ်ဝယ် ဂုဏ်ထူးဝိသေသ) ချီးမြှင့်တော်မူခဲ့လေ သတည်း။

وَمِنْ اٰبَآىِٕهِمْ وَذُرِّيّٰتِهِمْ وَاِخْوَانِهِمْ ۚ وَاجْتَبَيْنٰهُمْ وَهَدَيْنٰهُمْ اِلٰى صِرَاطٍ مُّسْتَقِيْمٍ ﴿٨٧﴾

၈၇။ ထိုမျှမကသေးချေ၊ (ငါအရှင်မြတ်သည်) ထို(နဗီတမန်တော်)တို့၏ အဘ၊ ဘေးတို့အနက် အချို့ကိုဝင်း၊ ယင်းတို့၏သား၊ မြေး၊ တို့အနက် အချို့ကိုဝင်း၊ ယင်းတို့၏ ညီ၊ သား၊ အစ်ကိုတို့အနက် အချို့ကိုဝင်း၊ (တရားလမ်းမှန်သို့ ပို့ဆောင်တော်မူခဲ့လေသည်၊)

စင်စစ်သော်ကား ငါအရှင်မြတ်သည် ယင်းသူတို့အားရွေးချယ်တော်မူ၍ ဖြောင့်မတ်မှန်ကန်သော တရားလမ်းကို ညွှန်ကြား ပြသတော်မူခဲ့လေသတည်း။

ذٰلِكَ هُدَى اللّٰهِ يَهْدِىْ بِهٖ مَنْ يَّشَآءُ مِنْ عِبَادِهٖ ؕ وَلَوْ اَشْرَكُوْا لَحَبِطَ عَنْهُمْ مَّا كَانُوْا يَعْمَلُوْنَ ﴿٨٨﴾

၈၈။ ဤကား အလ္လာဟ်အရှင်မြတ်၏ တရားဓမ္မတည်း။ ထိုအရှင်မြတ်သည် မိမိကျွန်တို့အနက်မှ အလိုရှိတော်မူသောသူအား ထိုတရားဓမ္မဖြင့် လမ်းမှန်သို့ ပို့ဆောင်တော်မူ၏။

သို့ရာတွင် အကယ်၍သာ ထိုတမန်တော်များသည် တစုံတရာကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်ယှဉ်ပြိုင် ကိုးကွယ်ခဲ့ကြပါမူ၊ ၎င်းတို့ ပြုမူခဲ့သမျှသောကောင်းမှုများသည် ဧကန်မလွဲ အချည်းနှီးအလဟဿ ဖြစ်သွားခဲ့ပေမည်။

اُولٰٓىِٕكَ الَّذِيْنَ اٰتَيْنٰهُمُ الْكِتٰبَ وَالْحُكْمَ وَالنُّبُوَّةَ ۚ فَاِنْ يَّكْفُرْ بِهَا هٰٓؤُلَآءِ فَقَدْ وَكَّلْنَا بِهَا قَوْمًا لَّيْسُوْا بِهَا بِكٰفِرِيْنَ ﴿٨٩﴾

၈၉။ (အထက်တွင်ဖော်ပြပါ) ဤ(တမန်တော်)များသည် အကြင်သူများပင်တည်း။ ငါအရှင်မြတ်သည် ၎င်းတို့အား ကျမ်းဂန်ဓမ္မကိုဝင်း၊ ဉာဏ်ပညာရပ်တို့ကိုဝင်း၊ နဗီတမန်တော်အဖြစ်ကိုဝင်း၊ ချီးမြှင့်ပေးသနားတော်မူခဲ့၏။

သို့ဖြစ်ပေရာအကယ်၍ဤသူများသည် ဤသည်တို့ကို ငြင်းပယ်ကြပါမူ မုချစင်စစ် ငါ

အရှင်မြတ်သည် ဤသည်တို့ကို အကြင်သူတို့အား လွှဲအပ်တော်မူအံ့။ ထိုသူတို့သည် ဤသည်တို့ကို မည်သည့်အခါမျှငြင်းပယ်ကြမည့်သူများမဟုတ်ပေ။ ၁

၉၀။ ဤသူများပင်အကြင်သူများတည်း။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား တရားလမ်းမှန်သို့ပို့ဆောင်တော်မူပြီးဖြစ်၏။ သို့ဖြစ်ပေရာ အသင်သည်လည်း ၎င်းတို့၏ လမ်းစဉ်ကို လိုက်ပါလေ။

(အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ ငါသည် ဤသည့်(ကုရ်အာန်ကျမ်းလာဒေသနာတော်များကို ဟောကြားခြင်း)နှင့် စပ်လျဉ်း၍ အသင်တို့ထံ တစုံတရာအခကို တောင်းဆိုသည်မဟုတ်။ ယင်း(ကုရ်အာန်ကျမ်းမြတ်)သည် *စကြာဝဠာ ခပ်သိမ်း(ရှိ ဝေနေယျအပေါင်း)တို့အဘို့ ဆုံးမသြဝါဒပင် ဖြစ်ချေသတည်း။* ၂

أُولَٰئِكَ الَّذِينَ هَدَى اللَّهُ ۖ فَبِهُدَاهُمُ اقْتَدِهْ ۗ قُل لَّا أَسْأَلُكُمْ عَلَيْهِ أَجْرًا ۖ إِنْ هُوَ إِلَّا ذِكْرَىٰ لِلْعَالَمِينَ ﴿٩٠﴾

---

(၁) ကုရ်အာန်ကျမ်းမြတ် (၆း၈၅-၈၇)တွင် ပါရှိသော တမန်တော်များအား အလ္လာဟ်အရှင်မြတ်သည် ကျမ်းဂန်၊ "ဟစ်က်မတ်" ဉာဏ်ပညာရပ်၊ "နဗူဝါတ်" နဗီတမန်တော်အဖြစ်များကို ချီးမြှင့်ထားတော်မူခဲ့၏။ သို့ဖြစ်ပေရာ "နဗူဝါတ်" နဗီတမန်တော်အဖြစ်သည် အထူးအဆန်း မဟုတ်တော့ပေ။ ကာဖိရ်များသည် တမန်တော်မြတ်မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ငြင်းပယ်ရန်လည်း အကြောင်းမရှိပေ။ ယင်းကဲ့သို့ အလားတူသက်သေသာဓက စံနမူနာများ ရှိနေပါလျက် ကာဖိရ်များသည် တမန်တော်မြတ်၏ "နဗူဝါတ်" နဗီတမန်တော်မြတ်အဖြစ်ကို ငြင်းပယ်ကြသည်ရှိသော် တမန်တော်မြတ်အဘို့ ဝမ်းနည်းဘွယ်မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်၏ "နဗူဝါတ်" ကို နာခံရန်အတွက် အကြင်သို့သောသူများကို လွှဲအပ် ခန့်ထားတော်မူပြီးဖြစ်သည်။ ထိုသူများသည် တမန်တော်မြတ်၏ "နဗူဝါတ်" ကို ဘယ်သောအခါမျှ ငြင်းပယ်ကြမည်မဟုတ်ပေ။ ထိုသူများကား "အန်ဆွာရ်" နှင့် "မူဟာဂျိရိန်" များတည်း။

ထာနဝီ၊ အ-၃၊ စ-၁၂၂၊

(၂) "ကုရ်အာန်ကျမ်းမြတ်သည် ကမ္ဘာအဝှန်းအတွက် အဆုံးအမ သြဝါဒပင် ဖြစ်ပေသည်" ဤမုဗ္ဗပါဠ်တော်ကို ထောက်ရှုခြင်းအားဖြင့် တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် လူမျိုးတမျိုး ပြည်နယ်တခု၊ ခေတ်တခေတ်အတွက်သာ ပွင့်တော်မူခဲ့သည် မဟုတ်ကြောင်း၊ ကမ္ဘာတသက် ကမ္ဘာအဝှန်းအတွက် ပွင့်လာတော်မူကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။

وَمَا قَدَرُوا اللّٰهَ حَقَّ قَدْرِهٖٓ اِذْ قَالُوْا مَآ اَنْزَلَ اللّٰهُ عَلٰى بَشَرٍ مِّنْ شَيْءٍ ؕ قُلْ مَنْ اَنْزَلَ الْكِتٰبَ الَّذِيْ جَآءَ بِهٖ مُوْسٰى نُوْرًا وَّهُدًى لِّلنَّاسِ تَجْعَلُوْنَهٗ قَرَاطِيْسَ تُبْدُوْنَهَا وَتُخْفُوْنَ كَثِيْرًا ۚ وَعُلِّمْتُمْ مَّا لَمْ تَعْلَمُوْٓا اَنْتُمْ وَلَآ اٰبَآؤُكُمْ ؕ قُلِ اللّٰهُ ۙ ثُمَّ ذَرْهُمْ فِيْ خَوْضِهِمْ يَلْعَبُوْنَ ﴿٩١﴾

၉၁။ စင်စစ်သော်ကား ၎င်းတို့က 'အလ္လာဟ်အရှင်မြတ်သည် မည်သည့်လူသားတဦးတယောက်၏အပေါ်၌မျှ မည်သည့်တစုံတရာကိုမျှ ချပေးသနားတော်မူခဲ့သည်မဟုတ်' ^၁ ဟုပြောဆိုကြသည့်အခါ၊ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အား သိရန် တာဝန်ရှိသည်နှင့်အညီ နက်နဲစွာမသိခဲ့ကြချေ။

(အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)မေးမြန်းပါလေ။ မူစာသည် လူတို့အတို့ ရောင်ခြည်တော်အဖြစ်၎င်း၊ တရားမမ္ဂအဖြစ်၎င်း၊ ယူဆောင်လာသော ကျမ်းဂန်ကို မည်သူသည် ချပေးခဲ့ပါသနည်း။ အသင်တို့သည် ထိုကျမ်းဂန်ကို (အဘိုးမတန်သော) စက္ကူများ(ပမာ) ပြုလုပ်ထားကြ၏။ အသင်တို့သည် ထိုစက္ကူများ(၏ အချို့အစိတ်အပိုင်း)ကိုထင်ရှားစေကြကုန်၏။ သို့ရာတွင် အသင်တို့သည် များစွာ(သော အစိတ်အပိုင်းတို့)ကိုမူ ထိန်ချန်လျှို့ဝှက်ထားကြလေသည်။ စင်စစ်သော်ကား အသင်တို့သည် (ထိုကျမ်းဂန်အားဖြင့်) အကြင်အရာများကို သင်ကြားပို့ချခြင်း ခံခဲ့ကြရလေသည်။ ထိုအရာများကို အသင်တို့ ကိုယ်တိုင်လည်း မသိရှိခဲ့ကြချေ။ အသင်တို့၏ အဘ ဘိုးဘေးတို့သည်လည်း မသိခဲ့ချေ။

---

(၁) အချို့ယဟူဒီများသည် တမန်တော်မြတ်ထံသို့ လာခဲ့ကြ၏။ တမန်တော်မြတ်သည် ကိုယ်နှင့်ခြေသလုံးနှစ်ဘက်ကို အဝတ်တစ်ခုဖြင့်ရစ်ပတ်ကာ ထိုင်လျက်ရှိတော်မူ၏။ ထိုယဟူဒီများက တမန်တော်မြတ်အား"အို-အဗူလ်ကာစင်မ်၊ တမန်တော်မူစာသည် အလ္လာဟ်အရှင်မြတ်ထံတော်မှ သင်ပုံးများတွင် ရေးမှတ်ထားသောကျမ်းဂန်ကို ယူဆောင်လာဘိသကဲ့သို့ အသင်သည် မိုးကောင်းကင်မှကျမ်းဂန်တစ်စောင်ကို ကျွန်ုပ်တို့ထံသို့ အဘယ်ကြောင့်ယူဆောင်၍မလာပါသနည်း" ဟုပြောဆိုကြသည့်အခါ အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းလာ မုက္ခပါဠ်တော်(၄း၁၅၃)ကို ထုတ်ပြန်ပို့ချတော်မူခဲ့လေသည်။ ထိုအခါ ယဟူဒီများအနက်မှ လူတစ်ယောက်သည် ခြေဖျားထောက်ကာ "အလ္လာဟ်အရှင်မြတ်သည် အသင့်အပေါ်၌၎င်း၊ အီစာအပေါ်၌၎င်း၊ အခြားတစ်ဦးတစ်ယောက်အပေါ်၌၎င်း၊ မည်သည့်အရာကိုမျှ ချပေးတော်မူခဲ့သည်မဟုတ်ပါ" ဟုပြောဆိုလေ၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်က ဤမုက္ခပါဠ်တော်(၆း၉၁)ကို ထုတ်ပြန်ပို့ချတော်မူလေသည်။ (အီဗ်နူဂျရီရ်) အ-၇၊ စ-၁၇၇၊

(အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား) "အလ္လာဟ် အရှင်မြတ်သည် သာလျှင် (ထိုကျမ်းဂန်ကို ချပေးသနားတော်မူခဲ့သည်)" ဟူ၍ ပြောကြားပါလေ။ ထို့နောက် အသင်သည် ယင်းသို့သူတို့အား ၎င်းတို့အကြောင်းမတန်သော ကိစ္စများတွင် ကစားခုန်စားလျက်သာ ပစ်ထားပါလေ။

၉၂။ ၎င်းပြင်ဤ(ကုရ်အာန်ကျမ်းဂန်)သည် အကြင်သို့သော ကျမ်းဂန်ပင်ဖြစ်သည်။ *ထိုကျမ်းဂန်ကို ငါ အရှင်မြတ်သည် ချပေးတော်မူခဲ့သည်။* [၁] "ဗရကတ်" *မင်္ဂလာ* [၂] နှင့်ပြည့်စုံ(သော ကျမ်းဂန်ဖြစ်)သည်။ ၎င်းထက်အလျင် ရှိခဲ့သော ကျမ်းဂန်များကိုလည်း အလ္လာဟ်အရှင်မြတ်အထံတော်မှ ထုတ်ပြန်တော်မူသောကျမ်းဂန်များဖြစ်ကြောင်း) အတည်ပြုသော ကျမ်းဂန်လည်းဖြစ်သည်။ ၎င်းပြင်အသင်သည် (ထိုကျမ်းဂန်ဖြင့်) *မက္ကာမြို့တော်* [၃] (သားများ)ကို၎င်း၊ *ထိုမြို့တော်၏ ပတ်ဝန်းကျင်၌* [၄] ရှိသောသူများကို၎င်း၊ သတိပေးရန်ဖြစ်သည်။

وَهَٰذَا كِتَٰبٌ أَنزَلْنَٰهُ مُبَارَكٌ مُّصَدِّقُ ٱلَّذِى بَيْنَ يَدَيْهِ وَلِتُنذِرَ أُمَّ ٱلْقُرَىٰ وَمَنْ حَوْلَهَا ۚ وَٱلَّذِينَ يُؤْمِنُونَ بِٱلْءَاخِرَةِ يُؤْمِنُونَ بِهِۦ ۖ وَهُمْ عَلَىٰ صَلَاتِهِمْ يُحَافِظُونَ ٩٢

---

(၁) တောင်ရာတ်ကျမ်းသည် အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ်တော်မူသော ကျမ်းဂန်ဖြစ်သကဲ့သို့ ဤကုရ်အာန်ကျမ်းဂန်သည်လည်း ထိုအရှင်မြတ် ထုတ်ပြန်ချမှတ်တော်မူသော ကျမ်းဂန်ပင် ဖြစ်၏။ ကုရ်အာန်ကျမ်းဂန်သည် မင်္ဂလာအပေါင်းနှင့်ပြည့်စုံ၏။ အတိတ်ခေတ်ကျမ်းဂန်များကိုလည်း ထောက်ခံအတည်ပြု၏။ မက္ကာမြို့တော်သားများအဘို့၎င်း၊ ထိုမြို့တော်၏ပတ်ဝန်းကျင်၌ ရှိသောသူများအဘို့၎င်း၊ ကမ္ဘာ့အဝှန်းအဘို့၎င်း၊ သတိပေးနှိုးဆော်သည့် တရားဓမ္မလည်းဖြစ်၏။ ကုရ်အာန်ကျမ်းဂန်ကဲ့သို့ ကျမ်းဂန်တစ်စောင်ကို ကမ္ဘာ့အဝှန်းရှိ လူသားအားလုံးနှင့် "ဂျင်န်" အားလုံးတို့သည် စုပေါင်း၍ပင် ရေးသားရန် မစွမ်းနိုင်ကြပေ။ ဤသို့သော ကျမ်းဂန်သည် အဘယ်မှ ရောက်ရှိလာခဲ့သနည်း။ တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံသို့ မည်သူပို့ချသနည်း။ အမှန်မှာ တောင်ရတ်ကျမ်းကို အလ္လာဟ်အရှင်မြတ် ပို့ချတော်မူသကဲ့သို့ ကုရ်အာန်ကျမ်းမြတ်ကိုလည်း အလ္လာဟ်အရှင်မြတ်သည်ပင်လျှင် ထုတ်ပြန်ပို့ချတော်မူခဲ့လေသည်။ သို့ဖြစ်ရာ တမန်တော် မူစာ(အလိုင်ဟစ္စလာမ်)သည် အလ္လာဟ်အရှင်မြတ်၏ "ရစူလ်" တမန်တော်ဖြစ်သကဲ့သို့ တမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည်လည်း အလ္လာဟ်အရှင်မြတ်၏ "ရစူလ်" တမန်တော်ဖြစ်ပေသည်။ အချို့ ယဟူဒီများကဲ့သို့ မလိုမုန်းတီးသောစိတ်ဖြင့် ဒေါသအလျောက် အမှန်ကိုအမှားဟူ၍ မဆိုရာ။

စင်စစ်သော်ကား နောင်တမလွန် ဘဝကို ယုံကြည်သောသူများသည် ဤ(ကုရ်အာန်ကျမ်းဂန်) ကိုလည်း ယုံကြည်ကြသည်သာဖြစ်သည်။ ၎င်းပြင် ထိုသူများသည် မိမိတို့၏ *ဆွလာတ်ဝတ်ပြုမှုကိုလည်း စွဲမြဲစွာ စောင့်ထိန်းကြသည်သာ ဖြစ်သတည်း။* [၁]

وَمَنْ أَظْلَمُ مِمَّنِ افْتَرٰى عَلَى اللّٰهِ كَذِبًا أَوْ قَالَ أُوْحِيَ إِلَيَّ

၉၃။ အမှန်စင်စစ်သော်ကား အကြင်သူထက်ပိုမို၍ မတရားသောသူသည် မည်သူရှိအံ့နည်း။ ထိုသူသည် အလ္လာဟ်အရှင်မြတ်အပေါ်၌တစုံတရာ မဟုတ်မမှန်ကို *ကြံဖန်လီဆယ်၍ ယိုးစွပ်လေသည်။* [၂]

---

(၂) "မုဗာရတ်ကံ" ဟူသောပုဒ်သည် "ဗရကတ်" ဟူသော မူရင်းပုဒ်မှ ဆင်းသက်လာ၏။ "ဗရကတ်" ဟူသည် တစုံတခု၌ အလ္လာဟ်အရှင်မြတ်၏ ကောင်းကျိုးချမ်းသာ မင်္ဂလာရှိခြင်းကို ဆိုသည်။ "မုဗာရတ်ကံ" ဟူသည် အလ္လာဟ်အရှင်မြတ်၏ ကောင်းကျိုးချမ်းသာ မင်္ဂလာရှိသော အရာကိုဆိုသည်။ ကြည့်။ရာဃိဗ်

(၃) "အုမ္မုလ်ကုရာ" ဟူသည် မက္ကာမြို့တော်ကိုဆိုသည်။ မက္ကာမြို့တော်ကို အုမ္မုလ်ကုရာ ဟုခေါ်ဆိုခြင်းမှာ ထိုမြို့တော်သည် မြို့ရွာအပေါင်းရှိ လူခပင်းတို့အတွက် "ကိဗ်လတ်" ဖြစ်ခြင်းကြောင့်ဖြစ်သည်။ ၎င်းပြင် ထိုလူခပင်းတို့သည် သားသမီးများ မိခင်တွင်စုရုံးကြသကဲ့သို့ ထိုမြို့တော်တွင် စုရုံးကြလေသည်။

ထာနဝီ၊ အ-၃၊ စ-၁၁၃၊

(၄) ထိုမြို့တော်၏ပတ်ဝန်းကျင် ဟူသောစကားတွင် ထိုမြို့တော်ကို ဝိုင်းခြံရစ်ပတ်လျက်ရှိသော မြို့ရွာတိုင်းပြည် အားလုံး အကျုံးဝင်ပေရာ ထိုမြို့တော်၏ပတ်ဝန်းကျင် ဟူသောစကားတွင် ကမ္ဘာ့အဝှန်းရှိ တိုင်းပြည်အားလုံး အကျုံးဝင်ပေသည်။ (ကဗီရ်)။

(၁) အကြင်သူများသည် သေပြီးနောက် ပြန်လည်ရှင်ထရမည့်အရေးကို တွေးတောကြအံ့။ "အာခိရတ်" နောင်တမလွန်ဘဝ ရှိသည်ကို အမှန်ယုံကြည်ကြအံ့။ ထိုသူများသည် မှန်ကန်သောတရားဓမ္မနှင့် ငရဲမီးဘေးမှ လွတ်မြောက်ရေးလမ်းစဉ်ကို ရှာဖွေစူးစမ်းကြအံ့၊ ထိုသို့သောသူများသာလျှင် အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်များကို လက်ခံနာယူကြအံ့၊ ၎င်းပြင် ဆွလာတ်အစရှိသည့် ဝတ်ပြုမှုများကိုလည်း စွဲမြဲစွာ ဆောက်တည်ကြအံ့သတည်း။

ဤမုက္ကပါဌ်တော်တွင် ဆွလ္လာတ်ဝတ်ပြုမှုကို ကျန်ဝတ်ပြုမှုအားလုံးတို့အစား သုံးထားတော်မူခြင်း ဖြစ်သည်။ ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် ဆွလာတ်ဝတ်ပြုမှုသည် အဘယ်မျှ အရေးကြီးသည်၊ အဘယ်မျှ မြင့်မြတ်သည်ကို စဉ်းစားဆင်ခြင်နိုင်ပေသည်။

(၂) အလ္လာဟ်အရှင်မြတ်ထံတော်မှ တမန်တော်မြတ်ထံသို့ "ဝဟ်ယ်" (ဝဟီ) ကျရောက်ခဲ့သည့် အချိန်ကာလ အတွင်း အချို့သူယုတ်မာများသည် အလ္လာဟ်အရှင်မြတ်အပေါ်၌ မဟုတ်မမှန်သောစကားများကို လုပ်ကြံလီဆယ်၍ စွပ်စွဲပြောဆိုခဲ့ကြ၏။ ဥပမာ-အချို့သူယုတ်တို့က "အလ္လာဟ်အရှင်မြတ်သည် မည်သည့်လူသား တဦး တယောက်အပေါ်၌ မည်သည့်အရာကိုမျှချပေးတော်မူခဲ့သည် မဟုတ်" ဟူ၍၎င်း၊ အချို့သူယုတ်တို့က ➤➤

وَلَمْ يُوحَ إِلَيْهِ شَيْءٌ وَمَن قَالَ سَأُنزِلُ مِثْلَ مَا أَنزَلَ اللَّهُ وَلَوْ تَرَىٰ إِذِ الظَّالِمُونَ فِي غَمَرَاتِ الْمَوْتِ وَالْمَلَائِكَةُ بَاسِطُو أَيْدِيهِمْ أَخْرِجُوا أَنفُسَكُمُ الْيَوْمَ تُجْزَوْنَ عَذَابَ الْهُونِ بِمَا كُنتُمْ تَقُولُونَ عَلَى اللَّهِ غَيْرَ الْحَقِّ وَكُنتُمْ عَنْ آيَاتِهِ تَسْتَكْبِرُونَ ﴿٩٣﴾

သို့မဟုတ် ထိုသူသည် မိမိအပေါ်၌ "ဝဟ်ယ်" *အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကျရောက်သည်ဟု ပြောဆိုလေသည်။* [၁] အမှန်မှာကား ၎င်း၏အပေါ် ဝဟ်ယ် မည်သည့်အမိန့်တော် တစုံတရာမျှ ကျရောက်သည်မရှိချေ။ ထိုနည်းတူစွာ (အကြင်သူထက် ပိုမို၍ မတရားသော သူကား မည်သူရှိအံ့နည်း၊) ထိုသူက အလ္လာဟ်အရှင်မြတ် ချပေးသနားတော်မူဘိသကဲ့သို့ပင် ကျွန်ုပ်သည်လည်း မကြာမီ (ထိုကဲ့သို့သော မုကွ္ဒပါဠ်တော်များကို) ချပေးအံ့" ဟု ပြောဆိုလေ၏။

အကယ်၍သာ အသင်သည် အကြင်အခါ၌ တွေ့မြင်ရပါမူ ကောင်းလေစွ၊ ထိုအခါဝယ် (ယင်း) မတရားပြုမူသော သူတို့သည် "မရဏ" သေခြင်းတရား၏ပြင်းထန်မှု၊ (ဒုက္ခများ)တို့၌ ကျရောက်လျက်ရှိကြကုန်အံ့၊ ၎င်းပြင် "မလာအိကဟ်" ကောင်းကင်တမန်များသည် မိမိတို့၏ လက်များကို (၎င်းတို့ဘက်သို့) ကမ်းလျက် "(အသင်တို့သည် *မိမိတို့၏ အသက်ဇီဝိန်များကို (အလျင်အမြန်)ထုတ်(၍ပေး) ကြလေကုန်။* [၂]

➤➤ "အလ္လာဟ် အရှင်မြတ်သည် လူသားတဦးအား ရစူလ်တမန်တော်အဖြစ်ဖြင့် စေလွှတ်တော်မူပါသလော" ဟူ၍၎င်း၊ ပြောဆိုခဲ့ကြလေသည်။ ကြည့်-ထာနဝီ။

(၁) "သို့တည်းမဟုတ် (အကြင်သူထက် ပိုမိုကျူးလွန်သူ အသူရှိအံ့နည်း၊) ထိုသူက "ကျွန်ုပ်တို့ထံသို့ ဝဟီကျရောက်၏" ဟု ဆို၏။ အမှန်မှာ ထိုသူထံသို့ တစုံတရာ ဝဟီကျရောက်ခဲ့သည် မရှိချေ။

ဤမုကွ္ဒပါဠ်တော်တွင် နဗီမဟုတ်ဘဲ မိမိတို့ကိုယ်ကိုမိမိတို့ နဗီများဖြစ်ကြပါသည်ဟု မုသားလီဆယ်ပြောဆိုသူ အားလုံး အကျုံးဝင်ကြပေသည်။

(၂) အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ မဟုတ်မှန် လုပ်ကြံ၍ပြောဆိုသော သူယုတ်မာများသည် ကြီးလေးသော အပြစ်ဒဏ်များကို အထူးသဖြင့် သေခါနီးအချိန်တွင်၎င်း၊ ကိယာမက်နေ့တွင်၎င်း ခံစားကြရမည်။ ဤမုကွ္ဒပါဠ်တော်တွင် သေခါနီးအချိန်၌ ထိုသူယုတ်မာတို့ တွေ့ဆုံရင်ဆိုင်ရမည့်ဖြစ်ရပ်ကို မိန့်ဆိုထားတော်မူသည်။

လူသားတို့၏ အသက်ဇီဝိန်များကို ကောင်းကင်တမန်များသာ နုတ်ကြပေသည်။ အသက်ဇီဝိန် နုတ်ခြင်းသည် လူသားတို့၏ အလုပ်မဟုတ်ပေ။ အဆိုပါ သူယုတ်မာတို့အား သေခါနီး အချိန်တွင် ➤➤

ယနေ့မူကား အသင်တို့သည် အလ္လာဟ် အရှင်မြတ်အပေါ်၌ မမှန်ကန်သောစကားကို ကြံဖန် လီဆယ်၍ ပြောဆိုကြသောကြောင့်၎င်း၊ ထိုအရှင် မြတ်၏သက်သေလက္ခဏာများကို မထီမဲ့မြင် ပြုပြင် ကြသောကြောင့်၎င်း၊ ယုတ်ညံ့ သိမ်ဖျင်းစေသော ပြစ်ဒဏ်ကို ခံစားကြရလတ္တံ့၊ (ဟု ပြောဆိုကြကုန်အံ့၊)

وَلَقَدْ جِئْتُمُونَا فُرَادَىٰ كَمَا خَلَقْنَاكُمْ أَوَّلَ مَرَّةٍ وَتَرَكْتُم مَّا خَوَّلْنَاكُمْ وَرَاءَ ظُهُورِكُمْ ۖ وَمَا نَرَىٰ مَعَكُمْ شُفَعَاءَكُمُ الَّذِينَ زَعَمْتُمْ أَنَّهُمْ فِيكُمْ شُرَكَاءُ ۚ لَقَد تَّقَطَّعَ بَيْنَكُمْ وَضَلَّ عَنكُم مَّا كُنتُمْ تَزْعُمُونَ ﴿٩٤﴾

၉၄။ ၎င်းပြင် (အလ္လာဟ်အရှင်မြတ် မိန့်ကြားတော် မူသည်မှာ) (ယခုမူကား) အသင်တို့သည် ငါအရှင် မြတ်အထံတော်သို့ *ပထမမူလက ငါအရှင်မြတ် အသင်တို့အား ဖန်ဆင်းတော်မူသည့် အတိုင်းပင် တယောက်စီ၊ တယောက်စီ လာကြလေပြီ။* [၁] ၎င်းပြင် အသင်တို့သည် ငါအရှင်မြတ်က အသင်တို့အား ချီးမြှင့်ပေးသနားတော်မူခဲ့သည့် (ဥစ္စာပစ္စည်း)များ ကိုလည်း မိမိတို့ နောက်တွင် စွန့်ထားခဲ့ကြလေပြီ။

ထို့ပြင် ငါအရှင်မြတ်သည် အသင်တို့နှင့် အတူတကွ အသင်တို့အား ကြားဝင်အသနားခံပေး မည့် အကြင်သူများကိုလည်း တွေ့မြင်တော်မမူ။ အသင်တို့သည် မိမိတို့၏အရေးကိစ္စများတွင် ထိုသူ များသည် (ငါအရှင်မြတ်၏) အပေါင်းအဖက်များ ဖြစ်သည်ဟူ၍ ထင်မြင်ယူဆခဲ့ကြလေသည်။

➤➤ ကောင်းကင်တမန်များက "အသင်တို့သည် မိမိတို့၏ အသက်ဇီဝိန်များကို ထုတ်ကြ"ဟု ပြောဆိုခြင်းမှာ ထိုသူယုတ်တို့၏ ဆင်းရဲဒုက္ခများကို ပိုမိုများပြားစေရန်အတွက် ပြစ်တင်ပြောဆို ကြိမ်းမောင်းခြင်းပင်ဖြစ်သည်။

(၁) အလိုသဘောကား အသင်တို့သည် ငါအရှင်မြတ်ထံသို့ (ပဌမမူလ ငါအရှင် အသင်တို့ကို ဖန်ဆင်းတော် မူသည့်အတိုင်း) တယောက်စီ၊ တယောက်စီ ရောက်ရှိလာကြပြီ။ အသင်တို့အနက် လူတိုင်းလူတိုင်းသည် လူ့လောကတွင် ၎င်းတို့နှင့်အတူတကွ ရှိခဲ့ကြသော အိမ်သူအိမ်သားများလည်းမပါ၊ ဥစ္စာပစ္စည်းလည်းမပါ၊ သားသမီးများလည်းမပါ၊ ကူညီ ယိုင်းပင်းသူများလည်းမပါ၊ တကိုယ်တည်းတည်း လူချည်း ပြန်လာကြပြီ။ အလ္လာဟ်အရှင်မြတ်အား စွန့်၍ အသင်တို့ ကိုးကွယ်ခဲ့ကြသော အရာများသည်လည်း အသင်တို့အား တစုံတရာ အကျိုးမပြုကြချေ။ (ကုရ်တုဗီ)။

(ယခုမူကား) အသင်တို့ (အချင်းချင်း)၏ စပ်ကြားဝယ် အဆက်ပြတ်သွားချေပြီ၊ ၎င်းပြင် အသင်တို့၏ ထင်မြင်ယူဆချက်သည်လည်း အသင်တို့ထံမှ ပျောက်ကွယ်သွားချေပြီ။ (သို့ဖြစ်ပေရာ ယခုမူကား အပြစ်ဒဏ်ကို အပြည့်ခံကြရတော့ပေမည်)။

إِنَّ ٱللَّهَ فَالِقُ ٱلْحَبِّ وَٱلنَّوَىٰ ۖ
يُخْرِجُ ٱلْحَىَّ مِنَ ٱلْمَيِّتِ وَمُخْرِجُ
ٱلْمَيِّتِ مِنَ ٱلْحَىِّ ۚ ذَٰلِكُمُ ٱللَّهُ ۖ
فَأَنَّىٰ تُؤْفَكُونَ ٩٥

၉၅။ ဧကန်စင်စစ်အလ္လာဟ်အရှင်မြတ်သည် မျိုးစေ့များနှင့်သစ်စေ့များကို (အညှောက်အတက် ထွက်စေရန်) *အက်ကွဲစေတော်မူသော အရှင်မြတ် ဖြစ်တော်မူ၏။* [၁] ထိုအရှင်မြတ်သည်သာလျှင် သက်မဲ့အရာများမှ သက်ရှိသတ္တဝါများကို ထုတ်တော်မူလေသည်။ ထို့ပြင်တဝ ထိုအရှင်မြတ်သည် သက်ရှိသတ္တဝါများမှ သက်မဲ့အရာများကို ထုတ်တော်မူသောအရှင်မြတ်လည်း ဖြစ်တော်မူ၏။

သို့ပြုစွမ်းနိုင်တော်မူသော အရှင်သည်ကား အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူ၏။ သို့ဖြစ်ပေရာ အသင်တို့သည် (ထိုအရှင်မြတ်အားခဝပ်ကိုးကွယ်ခြင်းကိုစွန့်၍) အဘယ်သို့ပြန်လှည့်သွားကြလေသနည်း။

فَالِقُ ٱلْإِصْبَاحِ وَجَعَلَ ٱلَّيْلَ
سَكَنًا وَٱلشَّمْسَ وَٱلْقَمَرَ
حُسْبَانًا ۚ ذَٰلِكَ تَقْدِيرُ ٱلْعَزِيزِ
ٱلْعَلِيمِ ٩٦

၉၆။ (ထိုအရှင်မြတ်သည် ညဉ့်၏ အမိုက်မှောင်အတွင်းမှ) *နံနက်မိုးသောက်ချိန်ကိုခွဲ၍ ထုတ်တော်မူသောအရှင်ဖြစ်တော်မူ၏။* [၂] ၎င်းပြင် ထိုအရှင်မြတ်သည်ပင်လျှင် ညဉ့်အချိန်ကို (လူသတ္တဝါအပေါင်းတို့) *အနားယူရန် ပြုလုပ်ထားတော်မူ၏။* [၃] နေနှင့်လတို့ကိုလည်း (နေ့ရက်လများ)တွက်ချက်ရန် *အတိုင်းအတာနှင့် ပြုလုပ်ထားတော်မူသည်။* [၄]

---

(၁) မြေမှပေါက်ရောက်သော ကောက်ပဲသီးနှံများ၊ သစ်ပင်ဝါးပင်များကို ပြုစုပျိုးထောင်ပေးသော အရှင်တပါးသီးခြားရှိသည်ဟူ၍ မုရှ်ရစ်က်များယူဆခဲ့ကြ၏။ ကောက်ပဲသီးနှံ၊ သစ်ပင်ဝါးပင်များ၌ မိမိကိုယ်တိုင် ပေါက်ပွားနိုင်သည့် သတ္တိရှိသည်ဟု အချို့ကယူဆကြ၏။ ထိုအယူအဆများသည် မှား၏။ အမှန်မှာ အလ္လာဟ် ➤➤

ဤသည် တန်ခိုးအာနုဘော်နှင့် ပြည့်စုံတော်မူသောအရှင်၊ အလုံးစုံတို့ကို အကြွင်းမဲ့သိရှိတော်မူသောအရှင်မြတ်၏ စီမံ ခွဲခန့်ခွဲမှုပင်တည်း။

၉၇။ ၎င်းပြင် ထိုအရှင်မြတ်သည်ပင်လျှင် အကြင်အရှင်မြတ် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် အသင်တို့အဘို့ နက္ခတ်တာရာများကို ကုန်းမြေနှင့် သမုဒ္ဒရာပင်လယ်၏အမှောင်များတွင် လမ်းမှန်ရစေခြင်းငှာ ပြုလုပ်တော်မူခဲ့လေသည်။ ၁

وَهُوَ الَّذِىْ جَعَلَ لَكُمُ النُّجُوْمَ لِتَهْتَدُوْا بِهَا فِىْ ظُلُمٰتِ الْبَرِّ وَالْبَحْرِ ؕ قَدْ

➤➤ အရှင်မြတ်သည်ပင် ထိုကောက်ပဲသီးနှံများ၊ သစ်ပင်ဝါးပင်များကို ပြုစုပျိုးထောင်တော်မူသောအရှင်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည်ပင် ထိုအပင်များ၌ အချိန်အခါဥတုရာသီအလိုက်ပေါက်ရောက် ကြီးထွားသီးပွင့်နိုင်သည့်သတ္တိများကိုလည်း ထည့်သွင်းပေးထားတော်မူခြင်းဖြစ်သည်။ (မာဂျိဒီ)အ-၂၊၈-၃၀၃၊ အအ-၁၄၁၊

(၂) အလ္လာဟ်အရှင်မြတ်သည် အစေ့၊ ဥ၊ သုတ်ရည်စသည်တို့မှ အပင်များ၊ အကောင်များ၊ လူများစသည့်သက်ရှိများကို ဖြစ်စေတော်မူ၏။ ထို့အတူပင် ထိုအရှင်မြတ်သည် ညဉ့်၏အနက်မှောင်မှ နံနက်လင်းရောင်ခြည်ကို ဖြစ်စေတော်မူသည်။ ဤသို့အားဖြင့် ကမ္ဘာမြေလောကနှင့် ကောင်းကင်လောကသည် အချင်းချင်း တူညီ၍သွားပေသည်။ မြေပြင်၌ သက်မဲ့မှသက်ရှိဖြစ်ပေါ်၏။ ကောင်းကင်၌ အမှောင်မှအလင်း ပေါ်လာ၏။ ကောင်းကင်၌အလင်းရောင်ခြည်ရှိ၏။ မြေပြင်၌သက်ရှိသတ္တဝါများရှိ၏။ (ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ အနန္တတန်ခိုးတော်နှင့် မဟာကရုဏာတော်ပင်တည်း)။ ဂျဝါဟစ်ရ်၊ အ-၄၊ စ-၈၀၊

(၃) လူတို့သည် နေ့အချိန်တွင် လောကီ လောကုတ္တရာကိစ္စများကို လုပ်ကိုင်ဆောင်ရွက်ကြသဖြင့်မောပန်းကြ၏။ ညဉ့်အချိန်တွင် ဆိတ်ငြိမ်စွာနေကြ၏။ အိပ်စက်၍ အပန်းဖြေကြ၏။ ယင်းသို့ လူသားတို့ ပြုလုပ်နိုင်ရန်အတွက် ထိုနေ့နှင့်ညဉ့်ကိုလည်း အလ္လာဟ်အရှင်မြတ်သည်ပင် ဖန်ဆင်းထားတော်မူ၏။

အလ္လာဟ်အရှင်မြတ်သည် နေ့ကိုလည်း ဖန်ဆင်းထားတော်မူ၏။ ညဉ့်ကိုလည်း ဖန်ဆင်းထားတော်မူ၏။ အကယ်၍ အလ္လာဟ်အရှင်မြတ်သည် နေ့မပါညဉ့်ချည်းကိုသာ ဖန်ဆင်း၍ထားတော်မူပါသော် နေ့ကိုမည်သူဖန်တီးနိုင်အံ့နည်း၊ အလ္လာဟ်အရှင်မြတ်မှတပါး မည်သူမျှမဖန်တီးနိုင်ပေ။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ အနန္တတန်ခိုးတော်နှင့် မဟာကရုဏာတော်ပင်တည်း။

(၄) နေနှင့်လတို့သည် အလ္လာဟ်အရှင်မြတ် သတ်မှတ်ပြဋ္ဌာန်းထားတော်မူသော အတိုင်းအတာနှင့် အပိုအလိုမရှိ တိကျမှန်ကန်စွာ သွားလာလည်ပတ်လျက် ကမ္ဘာ့အဝှန်းကို အကျိုးပြုနေကြ၏။ နေနှင့်လကို အကြောင်းပြု၍ လူသားများသည် နေ့၊ ရက်၊ ခုနှစ်သက္ကရာဇ်များကို သိနိုင်ကြ၏။

(၁) အလ္လာဟ်အရှင်မြတ်သည် လူသားတို့အကျိုးအလို့ငှာ မြောက်မြားစွာသော နက္ခတ်တာရာများကို ဖန်ဆင်းထားတော်မူ၏။ လူသားတို့သည် ထိုနက္ခတ်တာရာများကိုကြည့်၍ ကုန်း၌၎င်း၊ ရေ၌၎င်း၊ အမှောင်များတွင် အချိန်များကိုလည်း သိနိုင်ကြ၏။ လမ်းခရီးနှင့် အရပ်ဒေသများကိုလည်း သိနိုင်ကြ၏။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ အနန္တတန်ခိုးတော်နှင့် မဟာကရုဏာတော်ပင်တည်း။ ➤➤

فَصَّلْنَا الْآيٰتِ لِقَوْمٍ يَّعْلَمُوْنَ ﴿٩٧﴾

စင်စစ်ဧကန် ငါအရှင်မြတ်သည် (မိမိ) သက်သေသာဓကတို့ကို သိနားလည်သောသူတို့အဘို့ အသေးစိတ် ရှင်းလင်း ဖော်ပြတော်မူခဲ့လေသတည်း။

**တနည်း**

ၚင်းပြင် ထိုအရှင်မြတ်သည် အကြင်အရှင်မြတ်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် အသင်တို့အကျိုးငှာ နက္ခတ်တာရာများကို ဖန်ဆင်းထားတော်မူ၏။ သို့မှသာလျှင် အသင်တို့သည် (ညဥ့်၏) အမှောင်များတွင် ကုန်းမြေ၌ၚင်း၊ သမုဒ္ဒရာပင်လယ်၌ၚင်း၊ (တနည်း–ကုန်း၌ၚင်း၊ ရေ၌ၚင်း) ထိုနက္ခတ်များကို အကြောင်းပြု၍ လမ်းသိနိုင်ကြပေမည်။

မုချဧကန် ငါအရှင်မြတ်သည် သက်သေလက္ခဏာတော်များကို အသိဉာဏ် ရှိသူတို့အဘို့ ရှင်းလင်း ဖော်ပြထားတော်မူသည်။

وَهُوَ الَّذِيْٓ اَنْشَاَكُمْ مِّنْ نَّفْسٍ وَّاحِدَةٍ فَمُسْتَقَرٌّ وَّمُسْتَوْدَعٌ ۭ قَدْ فَصَّلْنَا الْآيٰتِ لِقَوْمٍ

**၉၈။** ၚင်းပြင် ထိုအရှင်မြတ်သည်ပင်လျှင် အကြင်အရှင်မြတ်တည်း။ ထို အရှင်မြတ်သည် အသင်(လူသား)တို့အား *လူတဦးတယောက်တည်းမှ ဖြစ်ပွားစေတော်မူခဲ့လေသည်။* [၁] တဖန် (အသင်တို့အဘို့) ကြာရှည်နေကြရန် နေရာတစ်ခု (မိခင်တို့၏သားအိမ်) လည်းရှိ၏။ ၚင်းပြင် ခေတ္တနေကြရန် နေရာတစ်ခု (ဘခင်တို့၏ကျောက်ကုန်း)လည်း ရှိ၏။ [၂]

---

➤➤ "အစ်လ်မွန်နုဂျူမ်" နက္ခတ်တာရာ အတတ်ပညာကို လေ့လာဆည်းပူး၍ အချို့သူများသည် နောက်ဖြစ်မည့်ဘဝအရေးများကို ကြိုတင်၍ဟောပြောကြသည်။ ဤသို့သောဟောပြောခြင်းသည် အစ္စလာမ်တရားတော်နှင့် လုံးဝဆန့်ကျင်၏။ သို့ရာတွင် နက္ခတ်တာရာအတတ်ပညာကို လေ့လာဆည်းပူး၍ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ဉာဏ်တော် သက်သေလက္ခဏာတော်များကို တွေးဆဆင်ခြင် မြော်မြင်ခြင်းကိုမူကား အစ္စလာမ်သည် မတားမြစ်ပေ။

(၁) အလ္လာဟ်အရှင်မြတ်သည် လူသားအားလုံးတို့အား လူတစ်ဦးတည်းမှ(ဝါ) ဘခင်ကြီးအာဒမ်(အလိုင် ➤➤

يَّفْقَهُونَ ﴿٩٨﴾

အမှန်စင်စစ် ငါအရှင်မြတ်သည် အသိဉာဏ် ရှိသောသူတို့အတို့ (မိမိ) သက်သေသာဓကများကို အသေးစိတ် ရှင်းလင်းဖော်ပြတော်မူခဲ့ပြီး ဖြစ်လေသည်။

وَهُوَ الَّذِىٓ اَنْزَلَ مِنَ السَّمَآءِ مَآءً فَاَخْرَجْنَا بِهٖ نَبَاتَ كُلِّ شَىْءٍ فَاَخْرَجْنَا مِنْهُ خَضِرًا نُّخْرِجُ مِنْهُ حَبًّا مُّتَرَاكِبًا وَمِنَ النَّخْلِ مِنْ طَلْعِهَا قِنْوَانٌ دَانِيَةٌ وَّجَنّٰتٍ مِّنْ اَعْنَابٍ

၉၉။ ၎င်းပြင် ထိုအရှင်မြတ်သည် အကြင်အရှင် မြတ်ပင်တည်း။ ထိုအရှင်မြတ်သည် မိုးကောင်းကင်မှ (မိုး)ရေကို ရွာသွန်းချတော်မူခဲ့လေသည်။ ထို့နောက် ငါအရှင်မြတ်သည် ထိုရေဖြင့် ကောက်ပဲသီးနှံ အညှောင့်အတက် မျိုးစုံတို့ကို ထွက်စေတော်မူခဲ့ လေသည်။ ၎င်းနောက် ငါအရှင်မြတ်သည် ထို အညှောင့်အတက်မှ စိမ်းစိုသော အကိုင်းအလက်ကို ထွက်စေတော်မူ၏။ ငါအရှင်မြတ်သည် ထိုအကိုင်း အလက်မှ အထပ်ထပ်ပြွတ်လျက်ရှိသော အစေ့ အဆန်တို့ကို ထွက်စေတော်မူ၏။

---

➤➤ ဟစ္စလာမ်)မှပင် ဖြစ်ပွားစေတော်မူခဲ့သည်။ သို့ဖြစ်ပေရာ လူသားအားလုံးတို့၏ ဘခင်ကြီးမှာ တဦးတည်း ပင်ဖြစ်သည်ကို ကောင်းစွာ သိနိုင်ပေသည်။ ဤသည့်အချက်ကို စဉ်းစားဆင်ခြင်သိမြင်ကြပါလျှင် ယနေ့ လူ့လောက၌ ဖြစ်ပွားလျက်ရှိသော လူယဉ်၊ လူရိုင်း၊ လူဖြူ၊ လူမည်း၊ ဇာတ်နိမ့်၊ ဇာတ်မြင့် စသည့်များစွာသော ပြဿနာများသည် ရှင်းလင်း၍ သွားနိုင်ပေသည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ အနန္တတန်ခိုးတော်နှင့် မဟာကရုဏာတော်ပင်တည်း။

(ကြည့်-မာဂျီဒီ။ အ-၂၊ စ-၃၀၃၊ အအ-၁၄၄၊)

⑵ "မုစ်တကန်ရ" ဟူသည် တည်းခိုရာဌာန၊ ရပ်နားရာဌာနကို ဆိုသည်။ "မုစ်တောင်ဒအိ" ဟူသည် လွှဲအပ်ပေးရာဌာန၊ ထိန်းသိမ်းထားရန်အတွက် အပ်နှံထားရာ ဌာနကိုဆိုသည်။ ဤသည်အဘိဓာန် အနက်တည်း။ အဆိုပါပုဒ် ၂-ပုဒ်၏ အနက်သဘောကို ဖွင့်ဆိုရေးသားရာတွင် မုဖတ်စ်စိရ်များသည် အဆိုပြားလျက်ရှိကြသည်။ အဆိုပါပုဒ်များနှင့် စပ်လျဉ်း၍ တဖ်စီရ် မူသေွဟုလ် ကုရ်အာန်ကျမ်းရှင် မောင်လာနာ ရှာဟ်အဗ်ဒုလ်ကာဒိရ် သခင်၏ ဖွင့်ဆိုရေးသားချက်ကို ကျွန်ုပ်ပိုမို နှစ်ခြိုက်သည်။ ရှာဟ်အဗ်ဒုလ်ကာဒိရ်သခင်၏ အဖွင့်မှာ အောက်ပါအတိုင်းဖြစ်သည်။

"လူသည် ပဌမသော် လူ့လောက၏အပြုအပြင်၊ အရည်အချင်း၊ သတ္တိများကို တဖြည်းဖြည်း ခံယူနိုင်ရန်အတွက် အမိ၏ဝမ်းတွင်း၌ အပ်နှံခြင်းခံရသည်။ ပြီးနောက် လူ့လောကတွင် လာရောက်ရပ်နား၏။ ထို့နောက် တဖန်လူသည် "အာခိရတ်" နောင်တမလွန်ဘဝသို့ ပြောင်းရန်အတွက် သင်းချိုင်းတွင် အပ်နှံခြင်း ခံရပြန်၏။ ပြီးနောက် လူသည် ဂျန္နတ်တွင်သော်၎င်း၊ ဂျဟန္နမ်တွင်သော်၎င်း၊ သွားရောက်တည်းခို၏။

وَّالزَّيْتُوْنَ وَالرُّمَّانَ مُشْتَبِهًا وَّغَيْرَ مُتَشَابِهٍ ۗ اُنْظُرُوْٓا اِلٰى ثَمَرِهٖٓ اِذَآ اَثْمَرَ وَيَنْعِهٖ ۗ اِنَّ فِيْ ذٰلِكُمْ لَاٰيٰتٍ لِّقَوْمٍ يُّؤْمِنُوْنَ ﴿٩٩﴾

ထို့ပြင် စွန်ပလွံပင်များမှ (ဝါ) ၎င်း၏အဖူး ဝတ်ဆံများမှ တွဲလဲကျနေသောအခိုင်များ (ထွက်လေ၏။) ထိုမှတပါး (ငါအရှင်မြတ်သည်) စပျစ်ခြံများကိုင်၎င်း၊ သံလွင်သီး၊ သလဲသီးများကိုင်၎င်း၊ (ဖန်ဆင်းတော်မူခဲ့လေသည်။) *အချို့မှာ အချင်းချင်းတူ၏။ အချို့မှာ မတူချေ။* ၁

အသင်တို့သည် ထိုအသီးများသီးချိန်၌၎င်း၊ မှည့်ခြင်းများကို ကြည့်ရှုကြလေကုန်။ ဧကန်စင်စစ် ဤသည်တို့၌ သက်ဝင်ယုံကြည်(လို)သော သူတို့အတို့ သက်သေ သာဓကများ ရှိကြကုန်သတည်း။

وَجَعَلُوْا لِلّٰهِ شُرَكَآءَ الْجِنَّ وَخَلَقَهُمْ وَخَرَقُوْا لَهٗ بَنِيْنَ وَبَنٰتٍۢ بِغَيْرِ عِلْمٍ ۗ سُبْحٰنَهٗ وَتَعٰلٰى عَمَّا يَصِفُوْنَ ﴿١٠٠﴾

**၁၀၀။** သို့ပါလျက် ထိုသူများသည် *ဂျင်န်(န်)သတ္တဝါများကို အလ္လာဟ်အရှင်မြတ်၏တွဲဖက်များ ပြုခဲ့ကြကုန်၏။* ၂ အမှန်စင်စစ်သော်ကား ထို(အလ္လာဟ်)အရှင်မြတ်သည်ပင်လျှင် ယင်း(မွတ်ရှိရစ်က်တို့)ကို ဖန်ဆင်းတော်မူခဲ့လေသည်။ ("ဂျင်န်" များကဖန်ဆင်းထားသည်မဟုတ်၊) ၎င်းပြင် ယင်းတို့သည် မသိနားမလည်ကြဘဲလျက် အလ္လာဟ်အရှင်မြတ်၌ သားသမီးများ ရှိသည်ဟူ၍ ကြံစည်စွပ်စွဲ ပြောဆိုကြလေ၏။ ထိုအရှင်မြတ်သည် ၎င်းတို့စွပ်စွဲပြောဆိုကြသည်တို့မှ သန့်ရှင်းစင်ကြယ် မြင့်မြတ်လှတော်မူပေသတည်း။

(၁) အလ္လာဟ်အရှင်မြတ်သည်ပင်လျှင် ကောင်းကင်မှမိုးရေကို ရွာသွန်းချတော်မူ၍ ၎င်းပြင် ထူးထွေဆန်းပြားလှသည် အပင်ကြီးငယ်အမျိုးမျိုးတို့ကို ပေါက်ရောက်စေတော်မူသော အပင်ကြီးငယ်တို့၏ ပေါက်ပွားကြီးထွားသီးပွင့်မှည့်ရင့်ပုံတို့ကိုကား အံ့မဆုံးပင်၊ ၎င်းအပင်ကြီးငယ်များသည် အစေ့အညှောင့် အကိုင်းအလက်၊ ညွန့်တက်၍ ကြီးထွားလာကြ၏။ဥတုရာသီနှင့်အညီ လျောက်ပတ်တင့်တယ် ရှုချင်ဘွယ် ငုံကင်းသီးပွင့်ကြ၏။ ပထဝီ၊ တေဇော၊ အာပေါ၊ ဝါယော ဓါတ်များသည် တမျိုးတစားတည်းပင် ဖြစ်လင့်ကစား ထိုဓါတ်များကို အကြောင်းပြု၍ ပေါက်ပွားလျက်ရှိသော အပင်ကြီးငယ် တို့တွင်မူ ဝတ်ဆံ၊ ဝတ်မှုံ အမျိုးမျိုး၊ အထုံအခိုး အမျိုးမျိုး၊ အညွန့်အတက် အမျိုးမျိုး၊ အဖူးအငုံ အမျိုးမျိုး၊ အပွင့် အမျိုးမျိုး၊ အသီး အမျိုးမျိုး၊ ရသာဩဇာ အမျိုးမျိုး၊ အဆင်းသဏ္ဌာန် အမျိုးမျိုး ရှိကြ၏။ ထိုထိုသော အပင်ကြီးငယ်တို့တွင် သီးပွင့်လျက်ရှိသော အသီးအပွင့် ➤➤

بَدِيعُ السَّمٰوٰتِ وَالْأَرْضِ ۖ أَنّٰى يَكُوْنُ لَهٗ وَلَدٌ وَّلَمْ تَكُنْ لَّهٗ صَاحِبَةٌ ۖ وَخَلَقَ كُلَّ شَيْءٍ ۚ وَهُوَ بِكُلِّ شَيْءٍ عَلِيْمٌ ۝١٠١

၁၀၁။ (ထိုအရှင်မြတ်သည်) မိုးများနှင့်ပထဝီမြေကို စတင်ဖန်ဆင်း တီထွင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။ ထို အရှင်မြတ်၌ ကြင်ရာကြင်ဖက်မရှိဘဲလျက် *အဘယ်မှာလျှင် ထိုအရှင်မြတ်၌ သားသမီးရှိနိုင်ပါအံ့နည်း။* [၁]

စင်စစ်သော်ကား ထိုအရှင်မြတ်သည်ပင်လျှင် အရာခပ်သိမ်းတို့ကို ဖန်ဆင်းတော် မူခဲ့လေသည်။ ၎င်းပြင် ထို အရှင်မြတ်သည်ပင်လျှင် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော်မူသော အရှင် ဖြစ်တော်မူပေသတည်း။

---

➤➤ တို့မှာပွင့်စ၊ ဖူးစ၊ ကင်းစ၊ သီးစအခါ၌တမျိုး၊ ကြီးထွားမှည့်ရင့်သည့်အခါ၌တဖုံ တစ်မျိုးတစ်ဖုံစီ ဖြစ်သည်မှာလည်း အံ့မဆုံးပင်ဖြစ်သည်။ ရွက်နု၊ ရွက်ဟောင်း လဲပြောင်း၍ ညွှန့်တက် ခက်လက် ဝေဆာလျက် ရှိသည်မှာလည်း ရှုမညီးပင် ဖြစ်၏။ ဤသည်တို့ကား အလ္လာဟ်အရှင်မြတ်၏ အနန္တတန်ခိုးတော် မဟာကရုဏာတော်ပင်တည်း။

ဤသည်များကို တွေးဆ ဆင်ခြင်ပါက အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်၊ ဉာဏ်တော် ကရုဏာတော်များသည် အဘယ်မျှ ကြီးမားလှသည်ကို သိမြင်နိုင်ပေသည်။

(၂) ကုရ်အာန်ကျမ်းမြတ်(၆း၉၆-၁၀၀)တွင် ပါရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ်သည် တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တ၊ ကရုဏာတော်အနန္တနှင့် ပြည့်စုံတော်မူ၏။ သို့ပါလျက် မုရှ်ရစ်က်များသည် "ဂျင်န်" ရှိုင်တွာန်များကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဘက် ယှဉ်ဘက်များ ပြုလုပ်ထားကြ၏။ အမှန်မှာ ထိုမုရှ်ရစ်က်တို့ကို အလ္လာဟ်အရှင်မြတ်သည်ပင်လျှင် ဖန်ဆင်းထားတော်မူ၏။ "ဂျင်န်" များက ဖန်ဆင်းထားသည် မဟုတ်ပေ။ ဤသည့်အချက်ကိုလည်း ယင်းမုရှ်ရစ်က်တို့သည် ဝန်ခံကြပေသည်။ ထိုမုရှ်ရစ်က်များအနက် အချို့က အလ္လာဟ်အရှင်မြတ်၌ သားသမီးများရှိသည်ဟု သက်သေသာဓက တစ်စုံတစ်ရာ မရှိဘဲလျက် ပြောဆိုကြ၏။ ဥပမာ-နဆွ်ရာနီများက တမန်တော်အီစာသည် အလ္လာဟ်အရှင်မြတ်၏ သားတော်ဖြစ်သည်ဟူ၍၎င်း၊ ယဟူဒီများက အုဇိုင်ရ်သခင်သည် အလ္လာဟ်အရှင်မြတ်၏ သားတော်ဖြစ်သည်ဟူ၍၎င်း၊ အရဗ် မုရှ်ရစ်က်များက "မလာအိကဟ်" ကောင်းကင်တမန်တော်များသည် အလ္လာဟ်အရှင်မြတ်၏သမီးတော်များ ဖြစ်သည်ဟူ၍၎င်း၊ ပြောဆိုကြ၏။ အမှန်မှာ အလ္လာဟ်အရှင်မြတ်သည် တပါးတည်း တည်ရှိတော်မူသောအရှင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် မုရှ်ရစ်က်တို့ပြောဆိုသော စကားများမှ လုံး၀ သန့်ရှင်းစင်ကြယ်တော်မူပေသည်။

(၁) မုရှ်ရစ်က်များက အလ္လာဟ်အရှင်မြတ်၌ သားသမီးရှိသည်ဟုဆိုကြ၏။ သားသမီးများသည် မိဘနှစ်ပါးတို့မှ ဆင်းသက်ပေါက်ပွားကြ၏။ သို့ဖြစ်ပေရာ "အလ္လာဟ်အရှင်မြတ်၌ သားသမီးရှိသည်" ဟု ဆိုသူများသည် ထိုအရှင်မြတ်၌ ဇနီးကြင်ဘက်ရှိသည်ဟု ဆိုရာရောက်ပေသည်။ သို့ရှိရာ ထိုသို့ဆိုသောသူများသည် ➤➤

ذٰلِكُمُ اللّٰهُ رَبُّكُمْ ۚ لَآ اِلٰهَ اِلَّا هُوَ ۚ خَالِقُ كُلِّ شَيْءٍ فَاعْبُدُوْهُ ۚ وَهُوَ عَلٰى كُلِّ شَيْءٍ وَّكِيْلٌ ﴿١٠٢﴾

၁၀၂။ (ဤသည်) ထို အရှင်မြတ်သည်ပင်လျှင် အသင်တို့အား မွေးမြူဖန်ဆင်းတော်မူသော အလ္လာဟ် အရှင်မြတ်ပင်တည်း။ ထိုအရှင်မြတ်မှတပါး ခဝပ်ကိုးကွယ်ရာအရှင် မရှိပြီ။ (ထိုအရှင်မြတ်သည်) အရာခပ်သိမ်းတို့ကို ဖန်ဆင်းတော်မူသော အရှင်ဖြစ်တော်မူ၏။ သို့ဖြစ်ပေရာ အသင်တို့သည် ထိုအရှင်မြတ်ကိုသာ ခဝပ်ကိုးကွယ်ကြလေကုန်။ စင်စစ်သော်ကား ထိုအရှင်မြတ်သည်ပင်လျှင် အရာခပ်သိမ်းတို့ကို စီမံခန့်ခွဲ ပြီးငြိမ်းစေတော်မူသောအရှင်မြတ် ဖြစ်တော်မူပေသတည်း။

لَا تُدْرِكُهُ الْاَبْصَارُ ۫ وَهُوَ يُدْرِكُ الْاَبْصَارَ ۚ وَهُوَ اللَّطِيْفُ الْخَبِيْرُ ﴿١٠٣﴾

၁၀၃။ (မံသ) စက္ခုများသည် ထို အရှင်မြတ်အား (စိတ်ငုံ) *မိနိုင်သည် မဟုတ်ပေ။* ① သို့ရာတွင် ထိုအရှင်မြတ်မှာကား (မံသ)စက္ခုများကို (စိတ်ငုံ) ငုံမိလျက် ရှိတော်မူချေသည်။ စင်စစ်သော်ကား ထိုအရှင်မြတ်သည် အလွန်နက်နဲ သိမ်မွေ့တော်မူသော အရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိရှိတော်မူသောအရှင်မြတ် ဖြစ်ပေသတည်း။

قَدْ جَآءَكُمْ بَصَآئِرُ مِنْ رَّبِّكُمْ ۚ فَمَنْ اَبْصَرَ فَلِنَفْسِهٖ ۚ

၁၀၄။ (အို- နဗီတမန်တော် အသင်သည် ဤသို့ ပြောဆိုပါလေ)"ဧကန်စင်စစ် အသင်တို့ထံ၊ အသင်တို့၏အရှင်မြတ်အထံတော်မှ သက်သေခံများသည် ရောက်ရှိလာခဲ့ချေပြီ။

---

➤➤ အလ္လာလ်အရှင်မြတ်၌ ဇနီးကြင်ဘက်ရှိကြောင်း သက်သေသာဓက ပြကြရပေမည်။ သက်သေသာဓကကား အလျင်း မရှိပေ။ အမှန်မှာ အလ္လာဟ်အရှင်မြတ်၌ ဇနီးကြင်ဘက်မရှိပေ။ ထိုအရှင်မြတ်၌ ဇနီး ကြင်ဘက်မရှိပေရာ အသို့လျှင် ထိုအရှင်မြတ်၌ သားသမီးရှိနိုင်အံ့နည်း။

① အလ္လာဟ်အရှင်မြတ်သည် အလွန်နက်နဲ သိမ်မွေ့နူးညံ့တော်မူသောအရှင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် မိမိ၏ သဗ္ဗညုတဉာဏ်တော်ဖြင့် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူ၏။ မြင်တော်မူ၏။ လူသားတို့သည် မံသစက္ခုများဖြင့် ဤပစ္စက္ခဘဝတွင် အလ္လာဟ်အရှင်မြတ်အား မဖူးမြင်နိုင်ကြပေ။ မငုံမိနိုင်ကြပေ။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာ့အဝှန်းကိုမြင်တော်မူ၏။ ငုံမိတော်မူ၏။ သိတော်မူ၏။ ထိုအရှင်မြတ်၏ သဗ္ဗညုတဉာဏ်တော်တည်းဟူသော ပိုက်ကွန်အတွင်းမှ တစ်စုံတစ်ရာမျှ မထွက်နိုင်ပေ။

وَمَنْ عَمِيَ فَعَلَيْهَا ۚ وَمَآ أَنَا۠ عَلَيْكُم بِحَفِيظٍ ﴿١٠٤﴾

သို့ဖြစ်ပေရာ မည်သူမဆို (ထိုသက်သေခံများကို) မြင်ပါလျှင်၊ ထိုသူ၏အတွက်သာ အကျိုးရှိအံ့။ ထိုနည်းတူစွာ မည်သူမဆို *မျက်စိကန်းလျက်နေပါလျှင် ထိုသူ၏အပေါ်၌သာ နစ်နာမှုရှိအံ့။*[၁] အမှန်သော်ကား ကျွန်ုပ်သည် အသင်တို့အပေါ်၌ *ကြီးကြပ်အုပ်ထိန်းသူမဟုတ်ပေ။*[၂]

وَكَذَٰلِكَ نُصَرِّفُ ٱلْءَايَٰتِ وَلِيَقُولُوا۟ دَرَسْتَ وَلِنُبَيِّنَهُۥ لِقَوْمٍ يَعْلَمُونَ ﴿١٠٥﴾

**၁၀၅။** ၎င်းပြင် ဤနည်းအတိုင်းပင် ငါအရှင်မြတ်သည် သက်သေ လက္ခဏာတော်များကို အမျိုးမျိုးအဖုံဖုံ ရှင်းလင်းပြတော်မူသည်။ (ယင်းသို့ရှင်းလင်းပြတော်မူသည့်အခါ) ထိုကာဖိရ်များက "အသင်သည် သင်ယူထားသည်" ဟု ပြောဆိုကြပေမည်။ ၎င်းပြင် ငါအရှင်မြတ်သည် ထို(ကုရ်အာန်)ကို အသိတရားရှိသူများအတွက် အထူးလင်းပြတော်မူရန်အလို့ငှာဖြစ်၏။

ٱتَّبِعْ مَآ أُوحِىَ إِلَيْكَ مِن رَّبِّكَ ۖ لَآ إِلَٰهَ إِلَّا هُوَ ۖ وَأَعْرِضْ

**၁၀၆။** (အို-နဗီတမန်တော်)အသင်သည် အသင့်အား မွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ မိမိထံ ကျရောက်လာသော "ဝဟ်ယ်" အမိန့်တော်များကို လိုက်နာ၍ နေပါလေ။

---

(၁) ဤပစ္စက္ခလူ့လောကတွင် လူသားတို့သည် မိမိတို့၏မျက်စိများဖြင့် အလ္လာဟ်အရှင်မြတ်အား မဖူးမြင်နိုင်ကြပေ။ သို့တစေလည်း ထိုအရှင်မြတ်၏ တရားရယူဘွယ်ရာ သက်သေလက္ခဏာတော်များသည် လူသားတို့ထံ အထင်အရှားရောက်ရှိလျက်ရှိချေပြီ။ အကြင်သူသည် ထိုထိုသော သက်သေလက္ခဏာတော်များကို စဉ်းစားဆင်ခြင်ရှုမြင်အံ့၊ ထိုသူသည် အလ္လာဟ်အရှင်မြတ်အား သိအံ့၊ အကြင်သူသည် ထိုထိုသော သက်သေ လက္ခဏာတော်များကို မစူးစမ်းမဆင်ခြင်အံ့၊ မျက်စိကန်း၍နေအံ့။ ထိုသူသည် မိမိကိုယ်ကို မိမိပင် ပျက်ဆီးဆုံးရှုံးအောင် ပြုရာရောက်အံ့၊ အလ္လာဟ်အရှင်မြတ်သည် ထိုထိုသော သက်သေလက္ခဏာတော်များကို အထင်အရှား ပြထားတော်မူပြီးဖြစ်ပေရာ မည်သူတစ်ဦးတစ်ယောက်အားမျှ အတင်းအကျပ် ကြည့်စေတော်မူသည် မဟုတ်ချေ။

(၂) ကျွန်ုပ်သည် သတိပေးနှိုးဆော်သောသူသာဖြစ်၏။ အလ္လာဟ်အရှင်မြတ်သည်သာလျှင် အသင်တို့ကိုထိန်းသိမ်းစောင့်ရှောက်တော်မူသော အရှင်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် အသင်တို့၏ အပြုအမူများကို ထိန်းသိမ်းမှတ်သားတော်မူ၏။ ထိုအပြုအမူများနှင့်အညီ အသင်တို့အား အကျိုးအပြစ်ပေးတော်မူမည်ဖြစ်၏။ ဤမုကွ်ာပါဌ်တော်သည် တမန်တော်မြတ်၏နှုတ်လျှာမှ ပြောကြားတော်မူသောမုကွ်ာပါဌ်တော်ဖြစ်သည်။

عَنِ الْمُشْرِكِيْنَ ﴿١٠٦﴾

ထိုအရှင်မြတ်မှတပါး ခဝပ်ကိုးကွယ်ရာဟူ၍ အလျင်း မရှိ။ ၎င်းပြင် အသင်သည် "မုရှ်ရစ်က်" များဘက်မှ မျက်နှာလွှဲထားပါလေ။

وَلَوْشَآءَ اللّٰهُ مَآ اَشْرَكُوْا ۗ وَمَا جَعَلْنٰكَ عَلَيْهِمْ حَفِيْظًا ۚ وَمَآ اَنْتَ عَلَيْهِمْ بِوَكِيْلٍ ﴿١٠٧﴾

၁၀၇။ အမှန် စင်စစ်သော်ကား အကယ်၍သာ အလ္လာဟ် အရှင်မြတ် *အလိုရှိတော်မူခဲ့ပါလျှင် ထိုသူများသည် "ရှရစ်က်" တွဲဘက်ကိုးကွယ်ခြင်းကို ပြုလုပ်ကြမည် မဟုတ်ပေ။* [၁]

၎င်းပြင် ငါအရှင်မြတ်သည် အသင့်အား ထိုသူတို့အပေါ်၌ ကြီးကြပ်အုပ်ထိန်းသူအဖြစ် ခန့်အပ်ထားတော်သည် မဟုတ်ပေ။ အသင်သည် ထိုသူတို့အဘို့ တာဝန်ခံ("မုခ်တာဂရ်" အလိုရှိရာပြုခွင့်ရှိသူလည်း) မဟုတ်ချေ။

وَلَا تَسُبُّوا الَّذِيْنَ يَدْعُوْنَ مِنْ دُوْنِ اللّٰهِ فَيَسُبُّوا اللّٰهَ عَدْوًاۢ بِغَيْرِ عِلْمٍ ۗ كَذٰلِكَ زَيَّنَّا لِكُلِّ اُمَّةٍ عَمَلَهُمْ ۠ ثُمَّ اِلٰى رَبِّهِمْ مَّرْجِعُهُمْ فَيُنَبِّئُهُمْ بِمَا كَانُوْا يَعْمَلُوْنَ ﴿١٠٨﴾

၁၀၈။ ၎င်းပြင် အသင်တို့သည် အကြင်(မှားယွင်းသော) ကိုးကွယ်ရာများကို ကဲ့ရဲ့ ရှုတ်ချခြင်း မပြုကြလင့်။ ထို(မုရှ်ရစ်က်)များသည် ထိုအရာများကို အလ္လာဟ်အရှင်မြတ်အား စွန့်ပယ်၍ ကိုးကွယ်ကြ၏။ အဘယ်ကြောင့်ဆိုသော် (အသင်တို့ ဤသို့ ပြုလုပ်ကြလျှင်) ထိုသူများသည်လည်း အသိတရား မရှိသဖြင့် စည်းကမ်းကျူးလွန်ကာ *အလ္လာဟ်အရှင်မြတ်အား ကဲ့ရဲ့ ရှုတ်ချခြင်း ပြုကြပေမည်။* [၂] ငါအရှင်သည် ဤနည်းအတိုင်းပင် အုပ်စုတိုင်း၏အမြင်တွင် ၎င်းတို့၏ပြုမူချက်တို့ကို *လှပတင့်တယ်အောင် ပြုလုပ်ထားတော်မူခဲ့လေသည်။* [၃]

---

(၁) အလ္လာဟ်အရှင်မြတ် အလိုတော်ရှိပါလျှင် လူသား အားလုံးတို့အား အတင်းအကြပ် 'မုအ်မင်န်' ဖြစ်စေတော်မူ၏။ ကမ္ဘာ့မြေပြင်တွင် ကာဖိရ်-မုရှ်ရစ်က်ဟူ၍ တစ်ဦးတစ်ယောက်မျှ ရှိမည်မဟုတ်ပေ။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်၏ "တာက္ကဝီနီ ဟာစ်ကမတ်" ကမ္ဘာ့အဝှန်းကို ဖြစ်ပေါ်စေတော်မူခြင်း၏ ရည်ရွယ်ချက်မှာ ဤသို့မဟုတ်ပေ။ အလ္လာဟ်အရှင်မြတ်သည် လူသားတို့၏ မူလသဘာဝ အစီအစဉ်ကို တမျိုးတစား ➢➢

➤➤ ပြုလုပ်ထားတော်မူ၏။ ထိုသဘာဝအရ လူသားတို့သည် ကြိုးပမ်းပါက တရားဓမ္မကို ရရှိမည်ဖြစ်၏။ သို့တစေလည်း ထိုအရှင်မြတ်သည် လူသားတို့အား တရားဓမ္မကို လက်ခံရာတွင် အတင်းအကျပ် ဖြစ်စေတော်မမူချေ။

**(၂) ထုတ်ဖော်ပို့ချတော်မူသည့်အကြောင်း**

"ရိဝါယတ်" ကျမ်းလာပြောကြားချက် ရှိသည်မှာ တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုက်ဟိဝစလ္လမ်)သည် ကာဖိရ်-မုရှ်ရစ်က်တို့၏ ကိုးကွယ်ရာများကို ကဲ့ရဲ့ရှုတ်ချ ပြောဆိုတော်မူလေ့ရှိကြ၏။ ထိုအခါ ကာဖိရ်-မုရှ်ရစ်က်တို့က တမန်တော်မြတ်အား "အသင်သည် ကျွန်ုပ်တို့၏ ကိုးကွယ်ရာများကို ကဲ့ရဲ့ ရှုတ်ချခြင်းမှ ရပ်တန့်ပါလေ၊ သို့မဟုတ်လျှင် ကျွန်ုပ်တို့သည် အသင်၏ကိုးကွယ်ရာကို ကဲ့ရဲ့ရှုတ်ချကြမည်" ဟု ပြောဆိုကြလေသည်။ ထိုအခါ ဤမုဗာရက်ပါဠိတော် ကျရောက်လာလေသည်။

အခြား အဆိုတစ်ရပ်ရှိသည်မှာ မွတ်စ်လင်မ်များသည် ကာဖိရ်မုရှ်ရစ်တို့၏ ကိုးကွယ်ရာများကို ကဲ့ရဲ့ရှုတ်ချ ပြောဆိုခဲ့ကြသည့်အခါ ၎င်းတို့၏ကဲ့ရဲ့ရှုတ်ချခြင်းသည် (ကာဖိရ်-မုရှ်ရစ်က်တို့က) အလ္လာဟ် အရှင်မြတ်အား ကဲ့ရဲ့ရှုတ်ချခြင်း၏ အကြောင်းမဖြစ်စေရန်အတွက် ၎င်းတို့သည် ယင်းသို့ ကဲ့ရဲ့ရှုတ်ချ ပြောဆိုခြင်းမှ မြစ်တားခြင်းခံခဲ့ကြရလေသည်။

မွတ်စ်လင်မ်တို့သည် မိမိတို့၌ တာဝန်ရှိသည့်အလျောက် "တဗ္ဗလီဃ်" တရားဓမ္မ ဟောကြားကြရပေမည်။ ယင်းသို့ တရားဓမ္မ ဟောကြားပြီးနောက်တွင် အကယ်၍လူများသည် ကုဖ်ရ်၊ ရှရစ်က်တွင် ဆက်လက်၍ နစ်မွန်းနေကြပါလျှင် ၎င်းတို့၏တာဝန်သာလျှင် ဖြစ်ပေမည်။ မုစ်လင်မ်တို့၏ တာဝန်မဟုတ်ချေ။

ဤနေရာတွင် အထူးသတိပြုအပ်သည့် အချက်တစ်ရပ်မှာ မွတ်စ်လင်မ်တို့သည် ကုဖ်ရ်ရှစ်ရိက်တွင် ကာဖိရ်၊ မုရှ်ရစ်က်တို့၏ ပိုမိုနစ်မွန်းခြင်း၊ နှောက်ယှက်တားဆီးခြင်းများ၏ အကြောင်းများ မဖြစ်ကြရပေ။ ဥပမာ-မွတ်စ်လင်မ်တို့သည် ကာဖိရ်များနှင့် ပြိုင်ဆိုင်၍ အခြေအတင်ပြောဆိုရာ၌၎င်း၊ စိတ်လိုက်မာန်ပါ ဒေါသထွက်ကာ ကာဖိရ်များ ကိုးကွယ်ကြသည့်ရုပ်ထုများ၊ အကြီးအကဲများကို ကဲ့ရဲ့ရှုတ်ချ၍ မပြောဆိုကြရပေ။ ယင်းသို့ ကဲ့ရဲ့ရှုတ်ချ၍ ပြောဆိုမိကြလျှင် ထိုသို့အပြောခံရသော ကာဖိရ်၊ မုရှ်ရစ်က်တို့သည် အလ္လာဟ် အရှင်မြတ်အား၎င်း၊ ကျွန်ုပ်တို့၏ ရိုသေမြတ်နိုးအပ်သော နဗီတမန်တော်များအား၎င်း၊ အကြီးအကဲများအား၎င်း၊ မရိုမသေ ပြုလုပ်ပြောဆိုကြပေမည်။ မသိမိုက်မဲကြသည့်အတွက် ဆဲဆိုရေရွတ်ခြင်းပင် ပြုကြပေမည်။ ဤသို့ ဖြစ်ရပါလျှင် အလ္လာဟ်အရှင်မြတ်နှင့် ကျွန်ုပ်တို့၏နဗီများ၊ အကြီးအကဲများအား ကာဖိရ်များက ကဲ့ရဲ့ရှုတ်ချခြင်း၏ အကြောင်းမှာ မွတ်စ်လင်မ်များပင် ဖြစ်ရှိနေ၏။ ဤသည့်အချက်ကို မွတ်စ်လင်မ်တို့သည် အထူးရှောင်ကြဉ်ကြရပေမည်။

ဘာသာတရပ်၏ မူများနှင့်စပ်လျဉ်း၍၎င်း၊ အသေးစိတ် ကိစ္စများနှင့်စပ်လျဉ်း၍၎င်း၊ မှားယွင်းချက်များကို ယဉ်ကျေးသိမ်မွေ့စွာ ကျိုးကြောင်းပြ၍ ပြောဆိုခြင်း၊ သို့မဟုတ် ဘာသာတစ်ခု၏ ချို့တဲ့မှုများကို၎င်း၊ သေးသိမ်မှုများကို၎င်း၊ ကျိုးကြောင်းပြ၍ မှန်ကန်တိကျစွာ ပြောဆိုခြင်း၊ (ဖွတ်မြီးနှင့် ဖွတ်တုတ် ဆိုသကဲ့သို့) သူ့စကားနှင့်သူ့ကို တုပ်နှောင်ပြောဆိုခြင်းများသည် ပြေဆိုအပ်သောစကားပင်ဖြစ်သည်။ ဤသို့ပြောဆိုခြင်းကို ကုရ်အာန်သည်ခွင့်ပြု၏။ သို့ရာတွင် လူတစ်မျိုး၏ အကြီးအကဲများကို၎င်း၊ ကိုးကွယ်ရာများကို၎င်း၊ ကဲ့ရဲ့ရှုတ်ချလိုသော စိတ်ဖြင့် သူတစ်ပါး စိတ်နာကြည်းအောင် ပြောဆိုရေးသားခြင်း ကိုမူကား ကုရ်အာန်သည် မည်သည့်အခါမျှ ခွင့်မပြုချေ။

(၃) ဤ "ဒွန္နယာ" ပစ္စက္ခဘဝသည် စမ်းသပ်ရာဘဝဖြစ်၏။ "အာခိရတ်" နောင်တမလွန်ဘဝသည် အကျိုးအပြစ် ခံစားရမည့်ဘဝ ဖြစ်၏။ ပစ္စက္ခဘဝတွင် လူမျိုးတိုင်း၊ အုပ်စုတိုင်းသည် မိမိတို့၏ ဘာသာ ➤➤

ထို့နောက် ၎င်းတို့အားလုံးသည် မိမိတို့အား မွေးမြူတော်မူသောအရှင်မြတ်အထံတော်သို့ ပြန်ကြရမည်။ ထိုအခါ အရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့ပြုလုပ်ခဲ့ကြသည်များကို ထုတ်ဖော်မိန့်ကြားတော်မူသည်။

وَأَقْسَمُوا بِاللَّهِ جَهْدَ أَيْمَانِهِمْ لَئِن جَاءَتْهُمْ آيَةٌ لَّيُؤْمِنُنَّ بِهَا قُلْ إِنَّمَا الْآيَاتُ عِندَ اللَّهِ وَمَا يُشْعِرُكُمْ أَنَّهَا إِذَا جَاءَتْ لَا يُؤْمِنُونَ ﴿١٠٩﴾

**၁၀၉**။ ထို့ပြင် ၎င်းတို့သည် အကယ်၍သာ ၎င်းတို့ထံ သက်သေလက္ခဏာ တစ်စုံတစ်ရာ ရောက်ရှိခဲ့ပါမူ၊ ၎င်းတို့သည် မုချ သက်ဝင်ယုံကြည်ကြမည်ဟု အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ အစွမ်းကုန်ကျိန်ဆိုကြလေ၏။

(အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့ ပြောကြားပါလေ။ "*သက်သေလက္ခဏာတို့သည် အလ္လာဟ်အရှင်မြတ် အထံတော်၌သာ ရှိကုန်၏။*" [၁] ၎င်းပြင် အသင်တို့ သိကြပါသလော။ မုချဧကန် ထို သက်သေလက္ခဏာတော်များ ကျရောက်ရှိလာသည့် တိုင်အောင် ထိုသူတို့သည် *ယုံကြည်ကြမည် မဟုတ်ပေ*။ [၂]

➤➤ အယူဝါဒ၊ အတွေးအခေါ်၊ အမြော်အမြင်၊ အပြုအမူများကို ကောင်းသည်၊ တင့်တယ်သည်။ နှစ်သက်ဘွယ်ဖြစ်သည်ဟူ၍ပင် မှတ်ယူလျက်ရှိကြ၏။ အလ္လာဟ်အရှင်မြတ်ကလည်း ဤအတိုင်းပင် ဖန်တည်းထားတော်မူ၏။
ဤပစ္စက္ခဘဝသည် စမ်းသပ်ရာဘဝ ဖြစ်သည့်အားလျော်စွာ အလ္လာဟ်အရှင်မြတ်သည် ကြီးမားသည့်ပြစ်မှုဒုစရိုက်များကို ကျူးလွန်သူတို့အား ချက်ချင်း ပြစ်ဒဏ်ပေးတော်မမူချေ။ နောင်တမလွန်ဘဝသည် ကျိုးပြစ်ခံစားရာဘဝ ဖြစ်သည်။ လူသား အားလုံးတို့သည်လည်း၊ အလ္လာဟ်အရှင်မြတ်ထံသို့ ရောက်ရှိကြရပေမည်။ နောင်တမလွန်ဘဝတွင် လူသားအားလုံးတို့၏ အပြုအမူအားလုံးတို့သည် အထင်အရှား ပေါ်လွင်လာပေမည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် လူသားအားလုံးတို့အား ကုသိုလ်၊ အကုသိုလ်နှင့်လျော်ညီစွာ အကျိုးအပြစ်များကို ပေးတော်မူမည် ဖြစ်သည်။ မာဂျိဒီ။ အ-၂၊ စ-၃၀၆၊ အအ-၁၈၅၊

(၁) "မုအ်ဂျိဇဟ်" တန်ခိုးပြာဋိဟာများ၊ သက်သလေက္ခဏာတော်များကို ပြနိုင်ခြင်း အစွမ်းသတ္တိသည် အလ္လာဟ်အရှင်မြတ်၏ အထံတော်၌သာလျှင် ရှိ၏။ ထိုအရှင်မြတ်မှတပါး မည်သူ့ထံ၌မျှ မရှိပေ။ ထို့အတွက်ကြောင့်ပင်လျှင် စံနစ်တကျ ဖြစ်ပွား လည်ပတ်သွားလျက်ရှိသော ကမ္ဘာ့စကြာဝဠာကြီးတွင် တစုံတရာ ➤➤

وَنُقَلِّبُ أَفْـِٔدَتَهُمْ وَأَبْصَٰرَهُمْ كَمَا لَمْ يُؤْمِنُوا۟ بِهِۦٓ أَوَّلَ مَرَّةٍ وَنَذَرُهُمْ

၁၁၀။ ၎င်းပြင် ထိုသူတို့ ပဌမအကြိမ် ယင်း (ကုရ်အာန်ကျမ်းတော်မြတ်)ကို သက်ဝင်ယုံကြည်ခြင်းမရှိကြသကဲ့သို့ပင်၊ ငါ အရှင်မြတ်သည်လည်း ထိုသူတို့၏စိတ်နှလုံးများကိုင်း၊ မျက်စိများကိုင်း၊ လှည့်ပေးတော်မူအံ့။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့၏ခေါင်းမာမှု၌ပင် တဝဲလည်လည် လွှတ်ထားတော်မူအံ့။ ၁

➤➤ ဖြည့်စွက်ခြင်း၊ ပြုပြင် ပြောင်းလွဲခြင်းများသည်လည်း ထိုအရှင်မြတ်၏ အာဏာစက်အတွင်း၌သာလျှင် ရှိသည်မှာ အထင်အရှားပင်ဖြစ်သည်။ တန်ခိုးပြာဋိဟာများကိုင်း၊ သက်သေလက္ခဏာတော်များကိုင်း၊ ထိုအရှင်မြတ်သည်သာလျှင် ပြနိုင်တော်မူသည်။ မည်သည့်တန်ခိုးပြာဋိဟာ သက်သေလက္ခဏာတော်ကို ပြသခြင်းသည် သင့်မသင့်ကိုလည်း၊ ထိုအရှင်မြတ်ပင် သိတော်မူ၏။

ထိုအတွက်ကြောင့် လူသားတို့သည် မိမိတို့၏ သေးသိမ် တိုတောင်းလှသော အသိဉာဏ်၊ အမြော်အမြင်ဖြင့် တန်ခိုးပြာဋိဟာ တစ်ပါးပါးကို သတ်မှတ်၍ တောင်းဆိုခြင်းသည်ပင် မပြုသင့်မပြုအပ်သော အမှုပင်ဖြစ်ပေသည်။

နဗီတမန်တော်ဖြစ်ကြောင်း၊ ထင်ရှားသိနိုင်ရန်အတွက် တစ်စုံတစ်ခုသော တန်ခိုးပြာဋိဟာ၊ သို့မဟုတ် ထင်ရှားသော သက်သေလက္ခဏာတော်ကား လိုအပ်ပေသည်။ ယင်းသို့ လိုအပ်သည့်အတိုင်း တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်အဟုန်ဖြင့် တခုမဟုတ် မြောက်မြားစွာသော တန်ခိုးပြာဋိဟာများ သက်သေလက္ခဏာတော်များကို ပြတော်မူခဲ့ချေပြီ။ (ထိုထိုသော တန်ခိုးပြာဋိဟာများနှင့် သက်သေလက္ခဏာတော်များ သည်ပင်လျှင် "အီမာန်" ယုံကြည်လိုသောသူများအဘို့ လုံလောက်ပေသည်)။
မာဂျိဒီ။ အ-၂၊ စ-၃၀၆၊ အအ-၁၅၉။

(၂) ကာဖိရ်၊ မုရှ်ရစ်က်တို့က တမန်တော်မြတ်အား ဆွဖါတောင်ကို ရွှေတောင်ပြုလုပ်ပေးရန် တောင်းဆိုကြသည့် အခါ အချို့မုစလင်မ်များ၏ စိတ်တွင် ယင်းသူတို့တောင်းကြသည့်အတိုင်း တန်ခိုးပြဋ္ဌိဟာ ပြတော်မူလိုက်ပါလျှင် ကောင်းစွ။ ဤသို့အားဖြင့် ထိုကာဖိရ်၊ မုရှ်ရစ်က်တို့သည် မွတ်စ်လင်မ်ဖြစ်ကောင်း ဖြစ်လာကြပေမည်ဟု လူ့သဘာဝအလျောက် အတွေးအခေါ်များ ပေါ်ပေါက်၍ လာခဲ့လေသည်။

ဤမုက္ခပါဠ်တော်တွင် ထိုမွတ်စ်လင်မ်များအား အလ္လာဟ်အရှင်မြတ်က "အသင်တို့ မသိကြ၊ (ငါသိတော်မူ၏) ထိုကာဖိရ်၊ မုရှ်ရစ်က်တို့ တောင်းဆိုသော တန်ခိုးပြာဋိဟာသည် ၎င်းတို့ထံ ရောက်ရှိလာပါသော်လည်း ယင်းသူတို့သည် (မလိုမုန်းထားကြသည့်အတွက်) ယုံကြည်ကြမည်ကား မဟုတ်ပေ" ဟု မိန့်ကြားထားတော်မူသည်။
မာဂျိဒီ။ အ-၂၊ စ-၃၀၆၊ အအ-၁၅၉၊

(၁) ဤမုက္ခပါဠ်တော်ကို သာမန်အားဖြင့် ကြည့်၍ "အလ္လာဟ်အရှင်မြတ်သည် မုရှ်ရစ်က်တို့၏ စိတ်နှလုံးများနှင့် မျက်စိများကို လှည့်ထားတော်မူသည်။ ထိုအရှင်မြတ်သည် မိမိကိုယ်တော်တိုင် ထိုမုရှ်ရစ်က်တို့အား ဖျက်ဆီးတော်မူသည်။ ၎င်းနောက်တဖန်အပြစ်ဒဏ်ပေးတော်မူသည်" ဟူ၍ကား မမှား၍ပင်မတွေးထင်အပ်ပေ။➤➤

فِي طُغْيَانِهِمْ يَعْمَهُونَ ⑪⓪

တနည်း။

ငင်းပြင် (ထိုသူများ မယုံကြည်ကြသည့် အတွက်) ငါအရှင်မြတ်သည်လည်း ထိုသူများ၏ စိတ်နှလုံး များကို (အမှန် တရား ရှာဖွေရန် ဆန္ဒထားခြင်း မှ)ငင်း၊ ထိုသူများ၏မျက်စိများကို (အမှန်တရား မြင်ခြင်းမှ)ငင်း၊ လှည့်ထားတော်မူမည် ဖြစ်သည်။ ယခု ထိုသူများ၏ မယုံကြည်ခြင်းမှာ) ထိုသူများသည် ထို (ကုရ်အာန်ကျမ်းမြတ်)ကို ပဌမအကြိမ် မယုံကြည် ကြသကဲ့သို့ပင်ဖြစ်သည်။ (အထူးအဆန်းမဟုတ်ပေ၊)ငင်းပြင် ငါအရှင်မြတ်သည် ထိုသူများအား ငင်းတို့၏ မောက်မာပလွှားမှု၌ပင် တဝဲလည်လည် လွှတ်ထား တော်မူမည်။

➤➤ အမှန်မှာ အလ္လာဟ်အရှင်မြတ်သည် မုရှ်ရစ်က်တို့၏ “မယုံကြည်သွေဖည်မှုကြောင့် ငင်းတို့၏ စိတ်နှလုံးများနှင့် မျက်စိများလှည့်ထားတော်မူခြင်းဖြစ်သည်။မယုံကြည်သွေဖည်မှုသည် အကြောင်းဖြစ်၏။ စိတ်နှလုံးနှင့် မျက်စိများကို လှည့်ထားတော်မူခြင်းသည် အကျိုးသာလျှင်ဖြစ်၏။

မုရှ်ရစ်က်တို့၏ စိတ်နှလုံးများသည် မူလပဌမက အမှန်တရားဘက်သို့ ဦးတည်လျက်ရှိခဲ့ပြီး၊ ထို့နောက်မှ အလ္လာဟ်အရှင်မြတ်က ငင်းတို့၏ စိတ်နှလုံးများကို လှည့်ထားတော်မူခြင်းကား အလျင်း မဟုတ်။ အမှန်တရားကို လိုလားဆည်းပူးသူတို့အား အလ္လာဟ်အရှင်မြတ်က ကုရ်အာန်ကျမ်းမြတ်(၂၉း ၆၉)တွင်” အကြင်သူများသည် ငါအရှင်မြတ်၏ လမ်းတော်၌ ကြိုးပမ်းကြအံ့။ မချကေန် ငါအရှင်မြတ်သည် ထိုသူတို့အား အရှင်မြတ်၏ (ထံတော်ပါးသို့ ချဉ်းကပ်နိုင်ရန်) လမ်းများကိုပြတော်မူမည်” ဟူ၍ပင် ကတိပြုထားတော်မူသည်။

ထာနဝီ။ အ-၃၊ စ-၁၂၃၊

ထိုကာဖိရ်၊ မုရှ်ရစ်တို့တွင် အမှန်တရားကို ရှာဖွေဆည်းပူးလိုသောဆန္ဒ၊ အမှန်တရားကို မြင်လိုသော အာသီသသည် အလျင်း မရှိပေ။ ယင်းသူတို့သည် ထောင်ပေါင်းများစွာသော မုအ်ဂျိဇဟ် တန်ခိုးပြာဋိဟာများကို တွေ့မြင်ကြရသော်လည်း ယုံကြည်ကြမည် မဟုတ်ပေ။ ယခင်ကဲ့သို့ပင် တဝဲလည်လည် ဖြစ်နေကြပေမည်။

အလ္လာဟ်အရှင်မြတ်က ယင်းသူတို့၏ စိတ်နှလုံးများကို (အမှန်တရား ရှာဖွေဆည်းပူးရန် ဆန္ဒထားခြင်းမှ)ငင်း၊ ယင်းသူတို့၏မျက်စိများကို (အမှန်တရားသိမြင်ခြင်းမှ)ငင်း၊ လှည့်ထားတော်မူခြင်းမှာ ယင်းသူတို့၏ ဇွတ်တရွတ်ပြုမှုမှု၊ မလိုမုန်းထားမှုတို့၏ အကျိုးပင်ဖြစ်သည်။

وَلَوْ أَنَّنَا نَزَّلْنَا إِلَيْهِمُ الْمَلَٰئِكَةَ وَكَلَّمَهُمُ الْمَوْتَىٰ وَحَشَرْنَا عَلَيْهِمْ كُلَّ شَيْءٍ قُبُلًا مَّا كَانُوا لِيُؤْمِنُوا إِلَّا أَن يَشَاءَ اللَّهُ وَلَٰكِنَّ أَكْثَرَهُمْ يَجْهَلُونَ ﴿١١١﴾

၁၁၁။ အကယ်၍ ငါ အရှင်မြတ်သည်၊ ၎င်းတို့ထံ "မလာအိကဟ်" ကောင်းကင် တမန်များကို စေလွှတ်တော် မူခဲ့သည်ဖြစ်စေ၊ ထို့ပြင် သူသေများသည် ၎င်းတို့နှင့် စကားပြောဆိုခဲ့ကြသည်ဖြစ်စေ၊ ထိုမှတပါး ငါအရှင်မြတ်သည် ခပ်သိမ်းကုန်သော အရာများကို ၎င်းတို့၏ရှေ့မှောက်တွင် စုပေးတော်မူခဲ့သည်ဖြစ်စေ၊ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ် အလိုရှိတော်မမူပဲ "အီမာန်" *သက်ဝင်ယုံကြည်ကြမည် မဟုတ်ပေ။* [1] သို့ရာတွင် ၎င်းတို့အနက် မြောက်များစွာသော သူတို့ကား *အသိတရား ကင်းမဲ့ကြကုန်သတည်း။* [2]

وَكَذَٰلِكَ جَعَلْنَا لِكُلِّ نَبِيٍّ عَدُوًّا شَيَاطِينَ الْإِنسِ وَالْجِنِّ يُوحِي بَعْضُهُمْ إِلَىٰ بَعْضٍ زُخْرُفَ الْقَوْلِ غُرُورًا ۚ

၁၁၂။ ၎င်းပြင် ထို့ကဲ့သို့ပင် ငါအရှင်မြတ်သည် နဗီတမန်တော်အသီးသီးတို့၌ လူရှိုင်တွာန်များကို၎င်း၊ ဂျင်န်ရှိုင်တွာန်များကို၎င်း၊ ပြုလုပ်ထားတော်မူ၏။ ထိုရှိုင်တွာန်များအနက် အချို့တို့သည် အချို့တို့(၏ စိတ်နှလုံးတွင်း)သို့ အပြင်ပန်းလှသော အရောင်တင်ထားသောစကားများကို ထည့်သွင်းလေ့ရှိကြ၏။

---

(၁) ဤမုဗာရက်ပါဌ်တော်တွင် ကာဖိရ်၊ မုရှ်ရစ်က်တို့၏ မလိုမုန်းတီးမှု၊ စိတ်ခတ်ခဲယဉ်းမှု၊ ခက်ထန်ကြမ်းကြုတ်မှုများကို မိန့်ဆိုထားတော်မူသည်။ ကာဖိရ်၊ မုရှ်ရစ်က်တို့သည် မလိုမုန်းတီးသောစိတ်ဖြင့် "ကျွန်ုပ်တို့ထံသို့ ကောင်းကင်တမန်များ အဘယ့်ကြောင့် မလာရောက်ကြသနည်း" ဟူ၍၎င်း၊ [ကြည့်ကုရ်အာန် (၆း၈။ ၂၅း၂၁)] "အသင်တို့သည် ကျွန်ုပ်တို့၏အဖေများကို ပြန်ခေါ်ပေးကြ" ဟူ၍၎င်း၊ [ကြည့်-ကုရ်အာန်(၄၄း၃၆)] အသင်သည် အလ္လာဟ် အရှင်မြတ်နှင့်တကွ ကောင်းကင်တမန်များကို ရှေ့မှောက်သို့ခေါ်ဆောင်လာပါ" ဟူ၍၎င်း၊ [ကြည့်-ကုရ်အာန်(၁၇း၉၂)] တန်ခိုးပြာဋိဟာအမျိုးမျိုး တောင်းဆိုခဲ့ကြ၏။

အကယ်၍တမ္မ ၎င်းတို့တောင်းဆိုသမျှသော တန်ခိုးပြာဋိဟာများကို ၎င်းတို့အား အထင်အရှား ပြတော်မူအံ့၊ ထိုမျှမက ကမ္ဘာအဝှန်းရှိ ရှိရှိသမျှသော တန်ခိုးပြာဋိဟာများကိုလည်း ၎င်းတို့အား အထင်အရှား ပြတော်မူအံ့။ သို့ငြားသော်လည်း ကာဖိရ်၊ မုရှ်ရစ်က်တို့သည် ၎င်းတို့တွင် အမှန်တရားကို ကြားလို၊ မြင်လို၊ သိလိုသောစိတ်စေတနာ အလျင်း မရှိသည့်အတွက်ကြောင့် ဉာဏ်နီ၊ ဉာဏ်နက် ထုတ်၍ တမျိုးတဖုံ သွေဖည် ငြင်းဆန်ကြဦးမည်မှာအမှန်ပင်ဖြစ်၏။ မည်သည့်အခါမျှ ယုံကြည်ကြမည်မဟုတ်ပေ။

မာဂျိဒီ။ အ-၂။စ-၃၀၇။အအ-၁၆၀

وَلَوْ شَآءَ رَبُّكَ مَا فَعَلُوهُ فَذَرْهُمْ وَمَا يَفْتَرُونَ ﴿١١٢﴾

ငင်းပြင် အကယ်၍သာ အသင့်အား မွေးမြူတော်မူသော အရှင်မြတ် အလိုတော်ရှိပါလျှင် ထိုရှိုင်တွာန်များသည် ထိုသို့ပြုနိုင်ကြမည် မဟုတ်ပေ။ သို့ဖြစ်ပေရာ အသင်သည် ထိုသူများကိုငင်း၊ ထိုသူတို့ လိမ်လည်ပြောဆိုကြသည့် အရာကိုငင်း၊ *စွန့်ပယ်ထားပါလေ။* ၁

---

⑫ အလ္လာဟ်အရှင်မြတ်သည် အလိုတော်ရှိပါက ကမ္ဘာအဝှန်းကို ယုံကြည်လာအောင် အတင်းအကြပ် ပြုတော်မူနိုင်သည်။ သို့ရာတွင် ဤသို့ပြုတော်မူခြင်းသည် အလ္လာဟ်အရှင်မြတ်၏ "ဟစ်ကမ်မတ်" "တာကွိုဝီနိရှ္မ" ဖန်ဆင်းတော်မူခြင်း၏ အစီအစဉ်နှင့် ဆန့်ကျင်ပေသည်။

ဤသည့်အချက်ကို ထိုကာဖိရ်၊ မုရှိရစ်က်တို့အနက် များစွာသောသူများသည် မသိ မိုက်မဲကြသည့်အတွက် နားမလည်ကြချေ။

⑬ အလ္လာဟ်အရှင်မြတ်၏ "ဟစ်ကွမက် ဗာလိဃာဟ်" ထက်မြက်၊ ပေါက်ရောက်သော ဉာဏ်တော်၏ အလိုအရ၊ ကမ္ဘာစကြာဝဠာကြီး တည်ရှိနေသမျှ ကာလပတ်လုံး အကောင်းနှင့်အဆိုးသည် ဒွန်တွဲ၍ မုချရှိရပေမည်။ မည်သည့်အင်အားစုမျှ လုံးဝပျောက်ကွယ်၍ သွားရမည်မဟုတ်ပေ။ "နိဇာမိတာကွိုဝီနိ" ကမ္ဘာစကြာဝဠာကြီးကို ဖန်ဆင်းထားတော်မူခြင်း၏ အစီအစဉ်မှာလည်း ဤအတိုင်းပင် ဖြစ်၏။ ထို့အတွက်ကြောင့်ပင် အကောင်းနှင့်အဆိုး၊ အမှားနှင့်အမှန်တို့သည် ကမ္ဘာတည်စမှပင် အချင်းချင်း အမြဲတစေ ယှဉ်ပြိုင်လျက် ရှိခဲ့ကြပေသည်။

တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ကာဖိရ်၊ မုရှိရစ်က်များသည် အနှောင့်အယှက် အမျိုးမျိုးပေးကြ၏။ မတောင်းသင့် မတောင်းအပ်သော တန်ခိုးပြာဋိဟာများကို တောင်းဆို၍ တမန်တော်မြတ်အား စိတ်ဆင်းရဲအောင် ပြုလုပ်ကြ၏။ လူအများတို့အား နည်းပရိယာယ် အမျိုးမျိုးတို့ဖြင့် တရားလမ်းမှန်မှ ကင်းကွာစေရန် ကြိုးပမ်းကြ၏။

တို့အတူပင် ပွင့်လေသမျှသော နဗီတမန်တော်များသည်လည်း ရှိုင်တွာန်များ၏ နှောင့်ယှက်မှု အမျိုးမျိုးကို ခံခဲ့ကြရပေသည်။ "လူသားတို့ တရားလမ်းမှန်ရရှိရေး" တည်းဟူသော တမန်တော်အပေါင်းတို့၏ မွန်မြတ်လှသော ရည်ရွယ်ချက်တွင် တမန်တော်မြတ်အား မအောင်မြင်ရန်အတွက် ရှိုင်တွာန်အင်အားစုများသည် ကြိုးပမ်းကြ၏။ ငင်းတို့သည် မိမိတို့၏ ယုတ်မာလှသော အကြံအစည် ထမြောက် အောင်မြင်နိုင်ရန်အတွက် အချင်းချင်း ကူညီရိုင်းပင်းကြ၏။ သူတပါးကို ဖြားယောင်းနိုင်ရန်အတွက် (အပေါ်ရံ ရွှေမှုန့်ကြဲ၊ အထဲကနွားချေးခဲ)၊ ဆိုသကဲ့သို့ အပြင်ပန်းလှသော၊ မမှန်သော စကားများကိုလည်း သင်ပေးကြ၏။

ရှိုင်တွာန်များ ရရှိထားသော ဤယာယီလွတ်လပ်ခွင့်များသည်လည်း အလ္လာဟ်အရှင်မြတ်၏ ဟစ်ကွမတ်တော်နှင့် 'နိဇာမိတကွိုဝီနိ' အရပင်ဖြစ်သည်။ ထို့အတွက်ကြောင့် တမန်တော်မြတ်သည် ယင်းရှိုင်တွာန်များ၏ နှောင့်ယှက်မှု၊ ဖြားယောင်းမှု များကြောင့် ပူပန်သောက မဖြစ်ရန် ယင်း ရှိုင်တွာန်များ နှင့် ယင်းတို့၏ လိမ်လည်မှု၊ ဖြားယောင်းမှုများကို လျစ်လျူပြုထားရန် ဤမုကွဒ္ဒပါဠ်တော်တွင် မိန့်ကြားထားတော်မူသည်။

وَلِتَصْغَىٰٓ إِلَيْهِ أَفْـِٔدَةُ ٱلَّذِينَ
لَا يُؤْمِنُونَ بِٱلْـَٔاخِرَةِ
وَلِيَرْضَوْهُ وَلِيَقْتَرِفُوا۟
مَا هُم مُّقْتَرِفُونَ ﴿١١٣﴾

၁၁၃။ ၎င်းပြင်(ယင်းသူတို့သည်အချင်းချင်း တဦးထံ တဦး အပြင်ပန်းလှသော စကားများကို ပို့လွှတ်ရှိကြသည်မှာ 'အာခိရတ်'နောင်တမလွန်ဘဝကို မယုံကြည်သောသူတို့၏ စိတ်နှလုံးများသည် ထို (အပြင်ပန်းလှသောစကားများ)ဘက်သို့ ယိမ်းယိုင် ကိုင်းညွတ်ရန် အလို့ငှာ၎င်း၊ ထိုစကားများကိုနှစ်သက်ကြရန် အလို့ငှာ၎င်း၊ ထိုသူတို့သည်(ယခု)ပြုလုပ်လျက် ရှိသည်များကို *ပြုလုပ်မြဲ ပြုလုပ်ကြရန်၎င်း၊ ဖြစ်ချေသတည်း။* ၁

أَفَغَيْرَ ٱللَّهِ أَبْتَغِى حَكَمًا
وَهُوَ ٱلَّذِىٓ أَنزَلَ إِلَيْكُمُ
ٱلْكِتَٰبَ مُفَصَّلًا ۚ وَٱلَّذِينَ
ءَاتَيْنَٰهُمُ ٱلْكِتَٰبَ يَعْلَمُونَ
أَنَّهُۥ مُنَزَّلٌ مِّن رَّبِّكَ
بِٱلْحَقِّ ۖ فَلَا تَكُونَنَّ مِنَ
ٱلْمُمْتَرِينَ ﴿١١٤﴾

၁၁၄။ (အို – နဗီတမန်တော် အသင်သည် ဤသို့ ပြောကြားပါလေ)။ 'ငါသည် အလ္လာဟ်အရှင်မြတ်မှ တပါးအခြားသူကို စီရင်ဆုံးဖြတ်သူ တရားသူကြီး အဖြစ်ရှာဖွေရပါမည်လော။ အမှန်စင်စစ်ထိုအရှင်မြတ်သည်ပင်လျှင် အသင်တို့ထံ၌ (အလုံးစုံတို့ကို)လင်း၍ပြထားပြီးဖြစ်သော (ကုရ်အာန်)ကျမ်းဂန် ဒေသနာတော်မြတ်ကို ချပေးသနားတော်မူခဲ့လေသည်။'

အမှန်သော်ကား (ယခင်က) ငါအရှင်မြတ် ကျမ်းဂန်ဒေသနာတော်ကို ချီးမြှင့်ပေးသနားတော်မူခဲ့သောသူတို့သည်လည်း ယင်း(ကုရ်အာန်)ကျမ်းတော်မြတ်သည် အသင့်အား မွေးမြူဖန်ဆင်းတော်မူသော အရှင်မြတ်ထံတော်မှ မှန်ကန်သောအကြောင်းအရာနှင့် တကွကျရောက်လာသော ဒေသနာတော်ကျမ်းမြတ်ဖြစ်သည်ကို သိရှိကြကုန်သည်။ သို့ဖြစ်ပေရာ အသင်သည် ဒွိဟမကင်းသူတို့အနက် အပါအဝင် မဖြစ်ပါလေနှင့်။

---

(၁) မြစ်တားထားသောအရာများကို ရှောင်ကြဉ်ရာတွင် 'အာခိရတ်' နောင်တမလွန်ဘဝ၌ ခံစားရမည့် အပြစ်ဒဏ်ကို ကြောက်ရွံ့ခြင်းသည် အရေးပါသောအကြောင်းပင်ဖြစ်၏။ ထို့အတွက်ကြောင့်လည်း ဤမုက္ခပါဌ်တော်တွင် ဤအချက်ကို သီးသန့် မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။ အကယ်၍ လူတယောက်သည် အလ္လာဟ်အရှင်မြတ်အား ယုံကြည်၍ နောင်တမလွန်ဘဝကို မယုံကြည်သော် ထိုသူအဖို့ အပြစ်ဒုစရိုက်များကို ရှောင်ကြဉ်ရန် မလွယ်ကူပေ။
ထာနဝီ အ-၃။စ-၁၂၄

وَتَمَّتْ كَلِمَتُ رَبِّكَ صِدْقًا وَّعَدْلًا ۚ لَا مُبَدِّلَ لِكَلِمٰتِهٖ ۚ وَهُوَ السَّمِيْعُ الْعَلِيْمُ ﴿١١٥﴾

၁၁၅။ ၎င်းအပြင် အသင့်အား မွေးမြူဖန်ဆင်းတော်မူသောအရှင်မြတ်၏ (ဤ)မုက္ခပါဌ်တော်သည် မှန်ကန်ခြင်းအရာ၌၎င်း၊ တရားမျှတခြင်းအရာ၌၎င်း၊ စုံလင်ပြည့်စုံလှပေသည်။ ၁

ထိုအရှင်မြတ်၏ မုက္ခပါဌ်တော်များကို ပြောင်းလွဲနိုင်သူဟူ၍ကားအလျင်းမရှိပြီ။ စင်စစ်မူကား ထိုအရှင်မြတ်သည် အကြွင်းမဲ့ ကြားတော်မူသောအရှင်၊ အကြွင်းမဲ့သိတော်မူသော အရှင်မြတ်ပင်တည်း။

---

(၁) ရှိုင်တွာန်များ၏ သွေးဆောင်ဖြားယောင်းမှုများကို ယုံကြည်မှု မကောင်းသော၊ မိုက်မဲသောသူများသာလျှင် နားထောင်ကြပေမည်။ ပြဿနာအရပ်ရပ် အရေးကိစ္စအဝဝတွင် အလ္လာဟ်အရှင်မြတ်အားသာလျှင် ယုံကြည်အားထား၍ ထိုအရှင်မြတ်အားသာလျှင် အဆုံးအဖြတ်ပေးတော်မူသည့် အရှင်အဖြစ် ယုံကြည် ပိုင်းဖြတ်ထားသော နဗီတမန်တော်တပါးသည်၎င်း၊ ထိုတမန်တော်၏ နောက်လိုက်တပည့်သားများသည်၎င်း၊ အသို့လျှင် အလ္လာဟ်အရှင်မြတ်အား စွန့်ပယ်၍ ရှိုင်တွာန်များ၏ သွေးဆောင်ဖြားယောင်းမှုများကို နားထောင်နိုင် ကြအံ့နည်း။ အသို့လျှင် အလ္လာဟ်အရှင်မြတ်မှတပါး အခြားသူတဦးတယောက်၏ အဆုံးအဖြတ်ကို နာခံနိုင်ကြအံ့နည်း။ အလျင်း နားထောင်ကြမည်လည်းမဟုတ်။ အလျင်း နာခံကြမည်လည်းမဟုတ်။

အထူးသဖြင့် (အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ထံသို့ မဟာတန်ခိုးပြာဋိဟာများဖြစ်သော ပြည့်ဝစုံလင်သော ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ချမှတ်တော်မူပြီးဖြစ်၏။ ယင်းကျမ်းမြတ်တွင် မူအားဖြင့် အရေးကြီးသော ရှင်းလင်းချက်များလည်း အပြည့်အစုံပါရှိ၏။ ထိုကျမ်းမြတ်နှင့်စပ်လျဉ်း၍ ကိတာဗီများသည် ကောင်းကင်ကျ ကျမ်းဂန်များ၌ပါရှိသော ဗျာဒိတ်စကားများအရ ယင်းကျမ်းမြတ်သည် အလ္လာဟ်အရှင်မြတ် ထံတော်မှ ထုတ်ပြန်ပို့ချတော်မူသော ကျမ်းဂန်၊ အမှန်ဖြစ်သည်ကိုလည်း ယုံကြည်ကြ၏။

ယင်းကျမ်းမြတ်တွင်ပါရှိသော သတင်းများသည်လည်း စ၊ လယ်၊ ဆုံး၊ လုံးဝမှန်ကန်၏။ အမိန့်ပညတ်များသည်လည်း သမ္မာသမတ်ဖြစ်၏။ မျှတ၏။ ယင်းကျမ်းမြတ်လာ ဒေသနာတော်များကို မည်သူတဦးတယောက်မျှ နှုတ်ပယ်၊ ဖြည့်စွက်၊ မှောက်လှန်၊ ကပြောင်းကပြန် ပြုလုပ်နိုင်သည်လည်းမရှိ။ ဤသို့သော ဂုဏ်အင်္ဂါများနှင့်ပြည့်စုံသော ကောင်းကင်ကျမ်းဂန် ဓမ္မက္ခန် ရှိနေပါလျက် မွတ်စ်လင်မ် တဦးတယောက်သည် အသို့လျှင် ရှိုင်တွာန်များ၏ သွေးဆောင်ဖြားယောင်းမှုများကို နားထောင်နိုင်အံ့နည်း။

ထို့ပြင်တဝ မွတ်စ်လင်မ်များသည် အလ္လာဟ်အရှင်မြတ်အား အဆုံးအဖြတ်ပေးတော်မူသည့် အရှင်အဖြစ်၎င်း၊ ထိုအရှင်မြတ်၏ ကျမ်းဂန်ကို စည်းမျဉ်းဥပဒေအဖြစ်၎င်း၊ မှတ်ယူကြ၏။ ထိုအရှင်မြတ်သည် အကြွင်းမဲ့ ကြားတော်မူသောအရှင်၊ အကြွင်းမဲ့ သိတော်မူသောအရှင်၊ ဖြစ်သည်ကိုလည်း မွတ်စ်လင်မ်တို့သည် ကောင်းစွာ ယုံကြည်ထားကြ၏။ သို့ဖြစ်ပေရာ ထိုသို့သော မွတ်စ်လင်မ်များသည် ရှိုင်တွာန်များ၏ သွေးဆောင်ဖြားယောင်းမှုများကို အသို့လျှင် နားထောင်ကြအံ့နည်း။

وَإِنْ تُطِعْ أَكْثَرَ مَنْ فِي الْأَرْضِ يُضِلُّوكَ عَنْ سَبِيلِ اللَّهِ ۚ إِنْ يَتَّبِعُونَ إِلَّا الظَّنَّ وَإِنْ هُمْ إِلَّا يَخْرُصُونَ ﴿١١٦﴾

**၁၁၆။** စင်စစ်သော်ကား အကယ်၍သာ အသင်သည် ကမ္ဘာမြေဝယ်ရှိ မြောက်မြားစွာသောသူတို့၏စကားကို လိုက်နာခဲ့မူ၊ ထိုသူတို့သည် အသင့်အား အလ္လာဟ် အရှင်မြတ်၏လမ်းမှ လွဲချော်မှောက်မှားစေကြကုန်အံ့။

ငင်းတို့သည် ထင်မြင်ချက်မှအပ အခြား မည်သည်ကိုမျှ လိုက်နာကြမည်မဟုတ်ပေ။ စင်စစ်သော်ကား ထိုသူတို့သည် ရမ်းဆပြောဆိုသူများသာ ဖြစ်ကြချေသတည်း။ ၁

(၁) လူ့လောကတွင် ဉာဏ်ပညာရှိသူ၊ ကျိုးကြောင်း ဆင်ခြင်သိမြင်သူ၊ သဘောတရား နားလည်သူ၊ အမြင်မှန်ရှိသူများသည် မပြတစေ အနည်းငယ်မျှပင် ဖြစ်ခဲ့ကြ၏။ လူနည်းစုပင်ဖြစ်ခဲ့ကြ၏။ လူ့လောကရှိ လူသားတို့အနက် လူများစုကြီးမှာကား အတွေးသမား၊ မှုမရှိသူများ၊ ထင်မြင်ရာ၊ ရမ်းဆ၊ တွေးတော ပြောဆိုသူများပင် ဖြစ်ကြ၏။ ဤကား မျက်မြင် အထင်အရှားပင်၊ ကမ္ဘာ့ရာဇဝင်တွင်လည်း ဤအတိုင်းပင်။ သို့ဖြစ်ပေရာ ယင်းသို့ရမ်းဆ၊ တွေးတောပြောဆိုကြသော လူများစုကြီး၏စကားကို လိုက်နာခြင်းသည် မိမိကိုယ်ကို မိမိပင် လမ်းလွဲအောင် ပြုရာရောက်ပေသည်။

ထို့အတွက်ကြောင့် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား 'အသင်သည် ကမ္ဘာမြေ၌ရှိသော လူသားတို့အနက် လူများစုကြီး၏စကားကို နာခံပါလျှင် ထိုသူများသည် အသင့်အား အလ္လာဟ်အရှင်မြတ်၏ လမ်းတော်မှ လွဲချော်အောင် ပြုလုပ်ကြလိမ့်မည်' ဟု မိန့်ကြား မြစ်တားထားတော်မူသည်။ ဤအမိန့်တော်သည် တမန်တော်မြတ်အား ထိပ်ထား၍ သူတပါးတို့အား (နောက်လိုက် တပည့်သားတို့အား) မိန့်ကြားတော်မူသော အမိန့်တော်ဖြစ်သည်။

ယင်းသို့ရမ်းဆတွေးတော ပြောဆိုသော စကားရပ်များအနက် စကားတရပ်မှာ 'တိရစ္ဆာန်တကောင်သည် မိမိအလိုလျှောက် သေသွား၏။ အမှန်မှာ ထိုတိရစ္ဆာန်ကို အလ္လာဟ်အရှင်မြတ်က သတ်တော်မူခြင်းဖြစ်၏။ မွတ်စ်လင်မ်များသည် ထိုသို့သောတိရစ္ဆာန်ကို ဟရာမ်မစားအပ်ဟူ၍ ဆိုကြ၏။ မွတ်စ်လင်မ်တို့သည် မိမိတို့ ကိုယ်တိုင်သတ်ဖြတ်သော တိရစ္ဆာန်ကိုမူ ဟလာလ် စားပိုင်သည်ဟူ၍ဆိုကြ၏။ ဤကားအံ့ဘွယ်ရာပင်ဖြစ်သည်' ဟု ကာဖိရ်များက ဝေဖန် ပြောဆိုခဲ့ကြလေသည်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ရှေ့တွင်လာလတ္တံ့သော အာယတ် (၆း၁၁၉-၁၂၂)တွင် ဖြေကြားထားတော်မူသည်။

ကာဖိရ်များက 'မွတ်စ်လင်မ်များသည် မိမိတို့ကိုယ်တိုင် သတ်ထားသော တိရစ္ဆာန်ကို စားကြသည်။ အလ္လာဟ်အရှင်မြတ် သတ်ထားတော်မူသော တိရစ္ဆာန်ကိုမူ မစားကြချေ' ဟု ပြောဆိုခဲ့ကြ၏။ ဤကဲ့သို့ သွေးဆောင် လိမ်လည်လှည့်ဖြားသည့် စကားများကို ရှိုင်တွာန်များသည် လူသားတို့ကို ဇဝေဇဝါဖြစ်စေရန် သင်ပေးကြသည်။ သိထားအပ်သည်မှာ ဟလာလ် ဟရာမ်၊ စားသုံးအပ်သောအရာ၊ မစားသုံးအပ်သောအရာများနှင့် အခြားကိစ္စ အရပ်ရပ်တွင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်သာလျှင် အတည်ဖြစ်၏။ အတွေး၊ အထင်၊ အရမ်းအဆ၊ အတမ်းအမှန်း များသည် အတည်မဟုတ်ချေ။ ➤➤

إِنَّ رَبَّكَ هُوَ أَعْلَمُ مَن يَضِلُّ
عَن سَبِيلِهِ ۖ وَهُوَ أَعْلَمُ
بِالْمُهْتَدِينَ ﴿١١٧﴾

၁၁၇။ စင်စစ်ကေန် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည်၊ ထိုအရှင်မြတ်၏ လမ်းတော်မှ မည်သူသည် လွဲချော်မှောက်မှားနေသည်ကို ကောင်းစွာသိရှိတော် မူသောအရှင် ဖြစ်တော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည်ပင်လျှင် လမ်းမှန်ကို ရရှိသူတို့အားလည်း ကောင်းစွာ သိရှိတော်မူသော အရှင် ဖြစ်တော်မူ၏။

فَكُلُوا مِمَّا ذُكِرَ اسْمُ اللَّهِ
عَلَيْهِ إِن كُنتُم بِآيَاتِهِ
مُؤْمِنِينَ ﴿١١٨﴾

၁၁၈။ သို့ဖြစ်ပေရာ အသင်တို့သည် အကြင်(တိရစ္ဆာန်)ကို စားသုံးကြလေကုန်။ ထို(တိရစ္ဆာန်)၏အပေါ်၌ အလ္လာဟ်အရှင်မြတ်၏နာမံတော်သည်၊ တသ(၍ လှီးဖြတ်)ပြီးဖြစ်လေသည်။ အကယ်၍ အသင်တို့သည် ထိုအရှင်မြတ်၏ အမိန့်တော်များကို သက်ဝင်ယုံကြည်သူများ ဖြစ်ကြပါလျှင်။

وَمَا لَكُمْ أَلَّا تَأْكُلُوا مِمَّا
ذُكِرَ اسْمُ اللَّهِ عَلَيْهِ وَقَدْ
فَصَّلَ لَكُم مَّا حَرَّمَ عَلَيْكُمْ
إِلَّا مَا اضْطُرِرْتُمْ إِلَيْهِ ۗ
وَإِنَّ كَثِيرًا لَّيُضِلُّونَ
بِأَهْوَائِهِم بِغَيْرِ عِلْمٍ ۗ إِنَّ

၁၁၉။ ၎င်းပြင်အသင်တို့သည် အကြင်(တိရစ္ဆာန်များ) အနက်မှ စားသုံးခြင်းမပြုကြရန် အသင်တို့၌ မည်သည့်အကြောင်း ရှိပါသနည်း။ ထို(တိရစ္ဆာန်များ)၏ အပေါ်၌ အလ္လာဟ်အရှင်မြတ်၏ နာမံတော်သည် တသပြီး ဖြစ်ချေသည်။ စင်စစ်သော်ကား ထို အရှင်မြတ်သည် အသင်တို့အပေါ်၌၊ အသင်တို့ မလွှဲမရှောင်သာ ဖြစ်ကြသည့်အခါမှအပ၊ (စားသုံးခြင်းမပြုကြရန်) မိမိတားမြစ်ထားတော်မူသည့်(တိရစ္ဆာန်များ)ကို အသေးစိတ်လင်းပြတော်မူပြီး ဖြစ်လေသည်။

➤➤ အမှန်မှာ သတ္တဝါအပေါင်းကို အလ္လာဟ်အရှင်မြတ်သည်ပင်လျှင် သေစေတော်မူ၏။ ထိုအရှင်မြတ်၏ နာမံတော်၌ မင်္ဂလာရှိ၏။ ထို့အတွက် ထိုအရှင်မြတ်၏ နာမံတော်ကို တသ၍ လှီးဖြတ်ထားသော တိရစ္ဆာန်သည် 'ဟလာလ်'စားပိုင်၏။ ထိုအရှင်မြတ်၏ နာမံတော်ကိုတသ၍ လှီးဖြတ်ခြင်းမရှိပဲ သေသွားသော တိရစ္ဆာန်သည် အသေကောင်မျှဖြစ်၏။ ဟရာမ်မစားသုံးအပ်ပေ။ ရှားဟ်အပ်ဒုလ်ကာဒိရ်၊ မူဒ္ဒိဟုလ်ကုရ်အာန်၊စ-၁၃၁

رَبَّكَ هُوَ أَعْلَمُ بِالْمُعْتَدِينَ ﴿١١٩﴾

ကေန်စင်စစ် များစွာသော သူတို့သည် မိမိတို့၏ အလိုဆန္ဒများ(ကို လိုက်စားခြင်း)ကြောင့် တစုံတရာ သိနားလည်သည်မရှိပဲ (သူတပါးတို့အား မှန်ကန်သော တရားလမ်းတော်မှ) ချွတ်ချော်တိမ်းပါးစေကြကုန်သည်။ (အို-နဗီတမန်တော်) အသင့်အား မွေးမြူတော်မူသော အရှင်မြတ်သည် တရားစည်းကမ်းတို့ကို ကျူးကျော်ကုန်သော သူတို့အား၊ ကောင်းစွာ သိရှိတော်မူပေသတည်း။

وَذَرُوا ظَاهِرَ الْإِثْمِ وَبَاطِنَهُ ۚ إِنَّ الَّذِينَ يَكْسِبُونَ الْإِثْمَ سَيُجْزَوْنَ بِمَا كَانُوا يَقْتَرِفُونَ ﴿١٢٠﴾

**၁၂၀။** အသင်တို့သည် ထင်ရှားသော *ပြစ်မှုဒုစရိုက်ကိုငှ်း၊ ဖုံးအုပ်လျက်ရှိသောပြစ်မှုဒုစရိုက်ကိုငှ်း၊* [၁] (တနည်း) အသင်တို့သည် အပြင်၌ရှိသော ပြစ်မှုဒုစရိုက်ကိုငှ်း၊ အတွင်း၌ရှိသောပြစ်မှုဒုစရိုက်ကိုငှ်း၊ (တနည်း)ထင်ရှားစွာပြုသော အပြစ်ကိုငှ်း၊ လျှို့ဝှက်စွာပြုသော အပြစ်ကိုငှ်း၊ (တနည်း)အပြစ်ထင်ရှားသောဒုစရိုက်ကိုငှ်း၊ အပြစ်မထင်ရှားသောဒုစရိုက်ကိုငှ်း၊ (တနည်း) ကာယဝစီဒုစရိုက်ကိုငှ်း၊ မနောဒုစရိုက်ကိုငှ်း၊ စွန့်လွှတ်ကြလေကုန်။ ကေန်စင်စစ် ပြစ်မှု ဒုစရိုက်တို့ကို ဆည်းပူးကြကုန်သော သူတို့သည် မကြာမြင့်မီ၊ မိမိတို့ပြုလုပ်(ဆည်းပူး)ခဲ့သည်တို့၏ အကျိုးကို ခံစားကြရလတ္တံ့။

---

(၁) 'ဇွာဟိရ်' ပေါ်လွင်သောအပြစ်ဟူသည် အလ္လာဟ်အရှင်မြတ် မြစ်တားထားတော်မူသော အရာကို ကာယကံမြောက် ကျူးလွန်သောအပြစ်ကို ဆိုသည်။ ဖုံးအုပ်လျက်ရှိသော အပြစ်ဟူသည် အလ္လာဟ်အရှင်မြတ် မိန့်မြစ်တားထားတော်မူသော အရာကိုဆန့်ကျင်ရန် စိတ်တွင် ယုံကြည်ပိုင်းဖြတ်ထားသော မနော ဒုစရိုက်ကိုဆိုသည်။ (ကုရ်တုဗီ)

ပေါ်လွင်သောအပြစ်နှင့် ဖုံးအုပ်လျက်ရှိသောအပြစ်ဟူသည် နည်းသောအပြစ်၊ များသောအပြစ်၊ လျှို့ဝှက်စွာ ပြုကျင့်သောအပြစ်၊ အထင်အရှားပြုကျင့်သော အပြစ်ကိုဆိုသည်။ ဤသည်ကား ကာဒဟ်မှတဆင့် ကြားသိရသော အဆိုတည်း။ (အိဗ်နုကျရိရ်)

وَلَا تَأْكُلُوا مِمَّا لَمْ يُذْكَرِ اسْمُ
اللَّهِ عَلَيْهِ وَإِنَّهُ لَفِسْقٌ ۗ وَإِنَّ
الشَّيَاطِينَ لَيُوحُونَ إِلَىٰ
أَوْلِيَائِهِمْ لِيُجَادِلُوكُمْ ۖ وَإِنْ
أَطَعْتُمُوهُمْ إِنَّكُمْ
لَمُشْرِكُونَ ﴿١٢١﴾

၁၂၁။ ၎င်းပြင်အသင်တို့သည် အကြင်(တိရစ္ဆာန်များ) အနက်မှစားသုံးခြင်း မပြုကြကုန်လင့်။ ထို(တိရစ္ဆာန်များ)၏အပေါ်ဝယ် အလ္လာဟ်အရှင်မြတ်၏ နာမံတော်သည် တသခြင်းမရှိခဲ့ချေ၊ ဤသည်(ကိုစားသုံးခြင်း)ကား အမိန့်တော်ကို သွေဖည်ခြင်းပင်တည်း။

ထိုမှတပါး မလွဲဧကန် 'ရှိုင်တွာန်' တို့သည် အသင်တို့နှင့် အချေအတင် ပြောဆို ငြင်းခုံကြရန် အလို့ငှာ၊ မိမိတို့၏ အဆွေခင်ပွန်းများထံ ပြင်ပပယောဂ(ဒွိဟသံသယများ)ကို သွင်းပေးကြလေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် အကယ်၍ ၎င်းတို့၏ ပြောစကားကို လိုက်နာကြပါမူ၊ မုချစင်စစ် အသင်တို့သည်လည်း အခြားအရာများကို အလ္လာဟ်အရှင်မြတ်နှင့်တွဲဖက်ကိုးကွယ်သူတို့တွင် အပါအဝင်ဖြစ်ကြလတ္တံ့။

أَوَمَن كَانَ مَيْتًا فَأَحْيَيْنَاهُ
وَجَعَلْنَا لَهُ نُورًا يَمْشِي بِهِ
فِي النَّاسِ كَمَن مَّثَلُهُ فِي
الظُّلُمَاتِ لَيْسَ بِخَارِجٍ
مِّنْهَا ۚ كَذَٰلِكَ زُيِّنَ لِلْكَافِرِينَ
مَا كَانُوا يَعْمَلُونَ ﴿١٢٢﴾

၁၂၂။ အကြင်သူသည် သူသေဖြစ်ခဲ့၏။ ① ထို့နောက် ငါအရှင်မြတ်သည် ထိုသူအား ရှင်စေတော်မူခဲ့၏။ ငါအရှင်မြတ်သည် ထိုသူ၏အဖို့ 'အီမာန်' တည်းဟူသော လင်းရောင်ခြည်ကို ပြုပေးတော်မူခဲ့၏။ ထိုသူသည် ထိုလင်းရောင်ခြည်နှင့်တကွ လူတို့တွင် သွားလာလျက်ရှိ၏။ ထိုသူသည် အမှောင်ထု၌ နစ်မွန်း၍ ထိုအမှောင်ထုထဲမှမထွက်နိုင်ပဲလျက် ရှိနေသောသူနှင့်တူနိုင်ပါမည်လော။ ဤနည်းအတိုင်းပင် ကာဖိရ် မယုံမကြည် သွေဖည်ငြင်းပယ်သောသူတို့၏ အမြင်၌ ၎င်းတို့၏ အပြုအမူတို့ကို လှပတင့်တယ်အောင် ပြုထားပြီးဖြစ်ချေသတည်း။

① ဤမုကဒ္ဒပါဌ်တော်တွင်ပါရှိသော သူသေဟူသည် လမ်းလွဲလျက်ရှိသော ကာဖိရ်ကို ဆိုလို၏။ ရှင်စေခြင်းဟူသည် တရားလမ်းမှန်ပြခြင်းကို ဆိုလို၏။ လင်းရောင်ခြည်ဟူသည် ကုရ်အာန်ကျမ်းမြတ်ကို ဆိုလို၏။ အမှောင်များဟူသည် 'ကုဖ်ရ်'ငြင်းဆန်ခြင်း၊ လမ်းလွဲခြင်းကိုဆိုလို၏။ ဤကား သာဝကြီး အီဗ်နုအဗ္ဗာစ် သခင်၏အဆိုတည်း။
(ရူလ်ဟုလ်မအာနီ) ➢➢

وَكَذٰلِكَ جَعَلْنَا فِىْ كُلِّ قَرْيَةٍ اَكٰبِرَ مُجْرِمِيْهَا لِيَمْكُرُوْا فِيْهَا ؕ وَمَا يَمْكُرُوْنَ اِلَّا بِاَنْفُسِهِمْ وَمَا يَشْعُرُوْنَ ﴿١٢٣﴾

၁၂၃။ ၎င်းပြင် ထိုနည်းနှင်နှင် ငါအရှင်မြတ်သည် မြို့ရွာတိုင်းတွင် ထိုမြို့ရွာများ၏ အကြီးအကဲများကို မကောင်းကြံစည်ကြရန် *ပြစ်မှုကျူးလွန်သူများ ဖြစ်စေတော်မူခဲ့၏။* ၁

အမှန်သော်ကား ယင်းသူတို့သည် မိမိတို့ ကိုယ်နှင့်ဆန့်ကျင်၍သာ မကောင်းကြံစည်ကြသည်။ သို့ရာတွင် ယင်းသူတို့သည် (ဤသည်ကိုပင်) မသိ နားမလည်ကြချေ။

---

➤➤ ရှိုင်တွာန်များသည် မွတ်စ်လင်မ်များကို တရားလမ်းမှန်မှ တိမ်းပါးသွားကြစေရန်အတွက် မိမိတို့၏ အဆွေခင်ပွန်းများကို သွေးဆောင်မှု၊ လှည့်ဖြားမှု၊ လိမ်လည်မှု နည်းပရိယာယ် အမျိုးမျိုးကို သင်ပေးကြ၏။ သို့ရာတွင် ၎င်းတို့၏အကြံအစည်သည် အောင်မြင်မည်မဟုတ်ပေ။ အတွေးခေါင်မှုသာ ဖြစ်ချေသည်။ အဘယ့်ကြောင့်ဆိုသော် အကြင်သူသည် ယခင်က အသိတရား မရှိသည့်အတွက် သေနေခဲ့၏။

အလ္လာဟ် အရှင်မြတ်သည် ထိုသူ့အား အီမာန်တည်းဟူသော အသက်ဇီဝိန်ဖြင့် ရှင်စေတော်မူခဲ့၏။ ကုရ်အာန်တည်း ဟူသော လင်းရောင်ခြည်ကို ပေးအပ်တော်မူခဲ့၏။ ထိုသူသည် ထိုလင်းရောင်ခြည်ဖြင့် လူတို့စပ်ကြား၌ တရားလမ်းမှန်ပေါ်တွင် အလွယ်တကူ ငြိမ်းချမ်းစွာ သွားလာလျက်ရှိ၏။

ထိုသို့သောသူများသည် ရှိုင်တွာန်များ၏ သွေးဆောင်ဖြားယောင်းမှု များကို လိုက်နာလျက်ရှိသော ရှိုင်တွာန်များ၏ အဆွေခင်ပွန်းများနှင့် အတူတူဖြစ်နိုင်ကြပါမည်လော။ ရှိုင်တွာန်များ၏ အဆွေခင်ပွန်းများသည် မိုက်မဲမှု၊ လမ်းလွဲမှုတည်းဟူသော အမိုက်မှောင်များတွင် နစ်မွန်း၍ တဝဲလည်လည် ဖြစ်လျက်ရှိကြ၏။ ထိုအမိုက်မှောင်များထဲမှ လွတ်မြောက်ရန် လမ်းစကိုလည်း မတွေ့ကြပေ။

အဘယ့်ကြောင့်ဆိုသော် ၎င်းတို့သည် အလင်းကိုပင် အမှောင်ဟူ၍ ၎င်း။ အကောင်းကိုပင် အဆိုးဟူ၍ ၎င်း၊ ထင်မှတ်နေကြ၏။ သို့ဖြစ်ရာ (ကုရ်အာန်တည်းဟူသော လင်းရောင်ခြည် ရရှိထားသော မွတ်စ်လင်မ်များနှင့် အမိုက် မှောင်များတွင် နစ်မွန်းလျက် ရှိကြသော ရှိုင်တွာန်များ၏ အဆွေခင်ပွန်းများသည်) အသို့လျှင် တူနိုင်ကြအံ့နည်း။

① မက္ကာမြို့တော်ရှိ အကြီးအကဲများသည် တမန်တော်မြတ်၏ အဆုံးအမ ဩဝါဒများကို လူအများ မလိုက်နာကြရန်အတွက် မကောင်းကြံစည်ခဲ့၏။ အမျိုးမျိုး လှည့်ဖြားခဲ့ကြ၏။

ဤသည် အဆန်းမဟုတ်ပေ။ အတိတ်ခေတ်များတွင်လည်း နဗီတမန်တော်များ ပွင့်တိုင်းပွင့်တိုင်း ကာဖိရ်တို့၏ အကြီးအကဲများသည် တမန်တော်များ၏ အဆုံးအမ၊ ဩဝါဒများကို လူအများမလိုက်နာကြရန် မကောင်းကြံစည် အားထုတ်ခဲ့ကြ၏။ အမျိုးမျိုး လှည့်ဖြားခဲ့ကြ၏။

وَإِذَا جَاءَتْهُمْ آيَةٌ قَالُوا لَنْ نُؤْمِنَ حَتَّىٰ نُؤْتَىٰ مِثْلَ مَا أُوتِيَ رُسُلُ اللَّهِ ۘ اللَّهُ أَعْلَمُ حَيْثُ يَجْعَلُ رِسَالَتَهُ ۗ سَيُصِيبُ الَّذِينَ أَجْرَمُوا صَغَارٌ عِنْدَ اللَّهِ وَعَذَابٌ شَدِيدٌ بِمَا كَانُوا يَمْكُرُونَ ﴿١٢٤﴾

၁၂၄။ ထိုမှတပါး ၎င်းတို့ထံ သက်သေလက္ခဏာ တစုံတရာ ရောက်ရှိလာသောအခါ ၎င်းတို့က ငါတို့သည် အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်များ ချီးမြှင့်ခြင်း ခံကြရသကဲ့သို့ ချီးမြှင့်ပေးသနားတော်မူခြင်း မခံကြရသမျှ ကာလပတ်လုံး ငါတို့သည် *အလျှင်း 'အီမာန်' သက်ဝင် ယုံကြည်ကြမည်မဟုတ်ပေဟု ပြောဆိုကြကုန်သည်။* [၁] (အမှန်စင်စစ်သော်ကား) အလ္လာဟ်အရှင်မြတ်သည်သာလျှင် မိမိ၏ ရစူလ် တမန်တော်ဂုဏ်ကို *မည်သူ့အား ချီးမြှင့်ရမည်ကို အသိဆုံးပင် ဖြစ်တော်မူပေသည်။* [၂]

(ထိုမှတပါး) ပြစ်မှုကျူးလွန်သော သူတို့သည် မကြာမြင့်မီ အလ္လာဟ်အရှင်မြတ်အထံတော်၌ မိမိတို့ မကောင်းကြံစည်မှုများ၏အစား ဂုဏ်ရည်သေးသိမ်ခြင်းနှင့် ပြင်းထန်သော ပြစ်ဒဏ်တို့ကို ခံစားကြရလတ္တံ့။

---

① (မက္ကာမြို့သား ကာဖိရ်များထံသို့ တန်ခိုးပြဥ္စဟာ ရောက်ရှိလာသောအခါ) ၎င်းတို့က 'ကျွန်ုပ်တို့သည် တမန်တော်မူစာ၊ တမန်တော်အီစာ၊ ချီးမြှင့်ခြင်းခံခဲ့ရသော တန်ခိုးပြဥ္စဟာများ ချီးမြှင့်ခြင်းခံရပြီး၊ ကျွန်ုပ်တို့ ကိုယ်တိုင် နဗီတမန်တော်များ မဖြစ်ကြရသမျှ ကာလပတ်လုံး အလျှင်း အီမာန်ယုံကြည်ကြမည်မဟုတ်' ဟု ပြောဆိုကြလေသည်။ (ကုရ်တုဗီ)

အဗူဂျဟ်လ်က 'အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍' 'ကျွန်ုပ်တို့သည် ထိုသူ (တမန်တော် မုဟမ္မဒ်)ထံ 'ဝဟ်ယ်'(ဝဟီ) အမိန့်တော်လာသကဲ့သို့ ကျွန်ုပ်တို့ထံ ဝဟီ မလာသမျှကာလပတ်လုံး ကျွန်ုပ်တို့သည် ထိုသူ (တမန်တော် မုဟမ္မဒ်)အား ကျေနပ်နှစ်သက်ကြမည်မဟုတ်၊ ၎င်း၏အမိန့်ကိုလည်း မည်သည့်အခါမျှ လိုက်နာကြမည်မဟုတ်' ဟု ပြောဆို၏။ (ကုရ်တုဗီ)

② နဗီတမန်တော်ဂုဏ်ထူးဖြင့် မည်သူမည်ဝါအား ချီးမြှင့်ထိုက်တော်မူသည်။ မည်သူမည်ဝါသည် ထိုဂုဏ်ထူးကို ထမ်းဆောင်နိုင်သည်ကို အလ္လာဟ်အရှင်မြတ်သည်သာလျှင် အသိဆုံးဖြစ်တော်မူ၏။ နဗီတမန်တော်အဖြစ်သည် ဆုပန်ကြား၍သော်၎င်း၊ (ဒုက္ကရစရိယာ) ခဲယဉ်းပင်ပန်းစွာ ကျင့်ခြင်းဖြင့်သော်၎င်း၊ ပစ္စည်းဥစ္စာ ရာထူးဌာနန္တရ အစရှိသည့် လောကီစည်းစိမ် ချမ်းသာမှုများကို အကြောင်းပြု၍သော်၎င်း၊ ရရှိနိုင်သောအဖြစ် ဂုဏ်ထူးမဟုတ်ပေ။ ဤသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာလျှင် ရှိပေသည်။ ဤသည် 'ကတ်စ်ဗီ' လူသားတို့ရှာဖွေ ဆည်းပူး၍ရနိုင်သော ဂုဏ်ထူးမဟုတ်။ 'ဝဟ်ဗီ' အလ္လာဟ်အရှင်မြတ် ချီးမြှင့်ပေးသနားတော်မူသော ဂုဏ်ထူးသာလျှင် ဖြစ်ချေသည်။

فَمَن يُرِدِ اللَّهُ أَن يَهْدِيَهُ يَشْرَحْ صَدْرَهُ لِلْإِسْلَامِ ۖ وَمَن يُرِدْ أَن يُضِلَّهُ يَجْعَلْ صَدْرَهُ ضَيِّقًا حَرَجًا كَأَنَّمَا يَصَّعَّدُ فِي السَّمَاءِ ۚ كَذَٰلِكَ يَجْعَلُ اللَّهُ الرِّجْسَ عَلَى الَّذِينَ لَا يُؤْمِنُونَ ﴿١٢٥﴾

၁၂၅။ ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် အကြင်သူအား လမ်းမှန်သို့ ပို့ဆောင်တော်မူရန် ရည်စူးတော်မူပါလျှင်၊ ထိုအရှင်မြတ်သည် ၎င်း၏ရင်ကို (ဝါ) စိတ်နှလုံးကို အစ္စလာမ်သာသနာတော် (ကို ယုံကြည် လက်ခံလာနိုင်ရန်)အလို့ငှာ ပွင့်လင်းကျယ်ဝန်းစေတော်မူအံ့။

သို့ရာတွင် ထိုအရှင်မြတ်သည် အကြင်သူအား လမ်းမှား၌ပင်ထားရှိရန် ရည်စူးတော်မူပါလျှင် ထိုအရှင်မြတ်သည် ၎င်း၏ရင်ကို (ဝါ) စိတ်နှလုံးကို ကျဉ်းကျပ်၊ အလွန့်အလွန် ကျဉ်းကျပ်စေတော်မူအံ့။ ထိုသူသည် မိုးကောင်းကင်သို့ တက်ရဘိသကဲ့သို့ ဖြစ်နေအံ့။

ဤနည်းအတိုင်းပင် အလ္လာဟ်အရှင်မြတ်သည် အီမာန် သက်ဝင်ယုံကြည်ခြင်းကင်းမဲ့သောသူတို့အပေါ်၌ အညစ်အကြေးများကို ပြုလုပ်ထားတော်မူလေသတည်း။

وَهَٰذَا صِرَاطُ رَبِّكَ مُسْتَقِيمًا ۗ قَدْ فَصَّلْنَا الْآيَاتِ لِقَوْمٍ يَذَّكَّرُونَ ﴿١٢٦﴾

၁၂၆။ အမှန် စင်စစ်သော်ကား ဤ (အစ္စလာမ် သာသနာတော်) သည်သာလျှင် အသင့်အား မွေးမြူတော်မူသော အရှင်မြတ်၏ ဖြောင့်မတ်မှန်ကန်သောတရားလမ်းပင် ဖြစ်ချေသည်။

မုချဧကန် ငါ အရှင်မြတ်သည် (မိမိ) သက်သေ လက္ခဏာတော်များကို နာခံသောသူတို့ အကျိုးငှာ အသေးစိတ် လင်းပြတော်မူပြီး ဖြစ်ချေသတည်း။

لَهُمْ دَارُ السَّلَامِ عِندَ رَبِّهِمْ
وَهُوَ وَلِيُّهُم بِمَا كَانُوا
يَعْمَلُونَ ﴿١٢٧﴾

၁၂၇။ ထို(တရားရယူသော)သူတို့အဖို့၊ ၎င်းတို့၏ အရှင်မြတ်အထံတော်၌ ချမ်းမြေ့ သာယာသော (ဂျန္နတ်အမတသုခ)ဘုံသည် အဆင်သင့်ရှိချေသည်၊ ၎င်းပြင် ထိုသူတို့၏ (မွန်မြတ်သော) အပြုအမူတို့ကြောင့် ထိုအရှင်မြတ်သည်ပင်လျှင်၊ ၎င်းတို့၏ အဆွေခင်ပွန်း ဖြစ်တော်မူသတည်း။ [၁]

وَيَوْمَ يَحْشُرُهُمْ
جَمِيعًا يَا مَعْشَرَ الْجِنِّ قَدِ
اسْتَكْثَرْتُم مِّنَ الْإِنسِ ۖ
وَقَالَ أَوْلِيَاؤُهُم مِّنَ الْإِنسِ
رَبَّنَا اسْتَمْتَعَ بَعْضُنَا بِبَعْضٍ
وَبَلَغْنَا أَجَلَنَا الَّذِي أَجَّلْتَ
لَنَا ۚ قَالَ النَّارُ مَثْوَاكُمْ
خَالِدِينَ فِيهَا إِلَّا مَا شَاءَ
اللَّهُ ۗ إِنَّ رَبَّكَ حَكِيمٌ
عَلِيمٌ ﴿١٢٨﴾

၁၂၈။ ထိုမှတပါးအကြင်နေ့ကို (သတိရကြလေကုန်) ထိုနေ့တွင် (အလ္လာဟ်အရှင်မြတ်သည်) ထိုသူအားလုံးတို့ကို စုရုံးစေတော်မူအံ့။ (ထို့နောက် အလ္လာဟ်အရှင်မြတ်သည် ဤသို့မိန့်ကြားတော်မူအံ့)။ "အို-ဂျင်(န်)ပရိသတ်အပေါင်းတို့၊ အသင်တို့သည် လူသတ္တဝါအပေါင်းတို့အား (လမ်းမှားသို့ သွေးဆောင်ခြင်းကို) များစွာ ပြုလုပ်ခဲ့ကြကုန်၏။" ထို့နောက် လူသားတို့အနက်မှ ထိုဂျင်(န်)သတ္တဝါတို့၏ မိတ်ဆွေများက လျှောက်ထားကြမည်မှာ "အို-ကျွန်တော်မျိုးတို့၏အရှင်၊ ကျွန်တော်မျိုးတို့အနက် အချို့သည်၊ အချို့ထံမှ အကျိုးခံစားခဲ့ကြပါသည်။ ၎င်းနောက် ကျွန်တော်မျိုးတို့သည် မိမိတို့အတွက် အရှင်မြတ်သတ်မှတ်ပိုင်းခြား ထားတော်မူသော အချိန်ကာလ(ဝါ)ကိယာမတ်နေ့သို့ ဆိုက်ရောက်ခဲ့ကြပါပြီ" ဟု လျှောက်ထားကြလတ္တံ့။

---

(၁) အကြင်သူသည် အစ္စလာမ်သာသနာ၏ ဖြောင့်မတ်မှန်ကန်သောလမ်းစဉ်ကို လိုက်နာကျင့်သုံးအံ့။ ထိုသူသည် 'ဒါရုစ္စလာမ်' ချမ်းမြေ့သာယာသော ဂျန္နတ်သို့ ဝင်စံမြန်းရအံ့။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည်ပင်လျှင် ထိုသူ၏ အဆွေခင်ပွန်း ဖြစ်တော်မူအံ့။ ဤသည် 'အောင်လေ့ယာအုရ်ရဟ်မာန်' အလ္လာဟ်အရှင်မြတ်၏ အဆွေခင်ပွန်းများ အဖြစ်တည်း။ ရှေ့လာလတ္တံ့သော မုက္ကပါဋ်တော်တွင် 'အောင်လေ့ယာအုရှ် ရှိုင်တွာန်' ရှိုင်တွာန်၏ အဆွေခင်ပွန်းများ၏အဖြစ်ကို မိန့်ဆိုထားတော်မူသည်။

(ထိုရောကာလ အလ္လာဟ်အရှင်မြတ်သည် ဤသို့) မိန့်ကြားတော်မူအံ့။ "အို-မယုံမကြည် သွေဖည်ငြင်းပယ် ကြကုန်သော ဂျင်(န်) နှင့် လူ အပေါင်းတို့) ဂျဟန္နမ်ငရဲဘုံသည်သာလျှင် အသင်တို့၏ နေရာဌာန ဖြစ်သည်။ (အသင်တို့သည်) ထို(ဂျဟန္နမ် ငရဲဘုံ၌ပင် ထာဝစဉ် နေထိုင်ကြရလတ္တံ့။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်(ထုတ်ရန်) အလိုတော်ရှိတော်မူပါသော် (ပြဿနာတခြား ဖြစ်ပေမည်)။

(အို-နဗီတမန်တော်) အသင့်အား မွေးမြူတော်မူသော အရှင်မြတ်သည် မုချစင်စစ် ဉာဏ်အမြော်အမြင်နှင့်ပြည့်စုံတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို၊ အကြွင်းမဲ့ သိတော်မူသော အရှင်ဖြစ်တော်မူပေသတည်း။

وَكَذٰلِكَ نُوَلِّيْ بَعْضَ الظّٰلِمِيْنَ بَعْضًاۢ بِمَا كَانُوْا يَكْسِبُوْنَ ﴿١٢٩﴾

၁၂၉။ ၎င်းအပြင် ငါအရှင်မြတ်သည် ဤနည်းအတိုင်းပင် ကျူးကျော်စော်ကားသူများအနက် *အချို့ကို အချို့အပေါ်၌ ၎င်းတို့၏အပြုအမူတို့ကြောင့် ကြီးစိုးစေတော်မူအံ့။* [၁]

**တနည်း။**

၎င်းပြင် ငါ အရှင်မြတ်သည် ဤနည်းအတိုင်းပင် အချို့မတရားသောသူတို့အား အချို့မတရားသော သူတို့နှင့် နီးကပ်စေတော်မူအံ့။ (အချို့မတရားသော သူတို့၏အနီး၌ ထားရှိတော်မူအံ့၊)

---

(၁) လူ့လောကတွင် လူကောင်းများသည် လူကောင်းများနှင့် ပူးပေါင်းကြ၏။ ကူညီယိုင်းပင်းကြ၏။ အတူနေထိုင်ကြ၏။ လူဆိုးများသည်လူဆိုးများနှင့် ပူးပေါင်းကြ၏။ ကူညီယိုင်းပင်းကြ၏။ အတူနေထိုင်ကြ၏။ နောင်တမလွန်ဘဝတွင်လည်း ဤနည်းအတိုင်းပင် နေထိုင်ကြရမည် ဖြစ်သည်။ ဤသည် အမျိုးအစားတူညီခြင်း၏ အကျိုးတရားပင် ဖြစ်ပေသည်။

يٰمَعْشَرَ الْجِنِّ وَالْإِنْسِ
اَلَمْ يَأْتِكُمْ رُسُلٌ مِّنْكُمْ
يَقُصُّوْنَ عَلَيْكُمْ اٰيٰتِىْ
وَيُنْذِرُوْنَكُمْ لِقَآءَ
يَوْمِكُمْ هٰذَا ۭ قَالُوْا
شَهِدْنَا عَلٰٓى اَنْفُسِنَا
وَغَرَّتْهُمُ الْحَيٰوةُ الدُّنْيَا
وَشَهِدُوْا عَلٰٓى اَنْفُسِهِمْ
اَنَّهُمْ كَانُوْا كٰفِرِيْنَ ﴿١٣٠﴾

၁၃၀။ အို - ဂျင်(န်)နှင့်လူသတ္တဝါ အပေါင်းတို့၊ အသင်တို့ထံ *အသင်တို့အနက်မှပင် ရစူလ်တမန်တော်များသည်* [၁] ရောက်ရှိလာကြကာ အသင်တို့အား ငါ အရှင်မြတ်၏ အမိန့်တော်များကို ကြားနာစေခြင်းကိုငင်း၊ အသင်တို့အား ဤနေ့နှင့် ကြုံကြိုက်ကြရမည့်အကြောင်း သတိပေးနှိုးဆော်ခြင်းကိုငင်း၊ ပြုလုပ်လေ့ရှိခဲ့ကြသည် မဟုတ်ပါလော။

(ထိုအခါ) ယင်း ဂျင်(န်)နှင့်လူသားတို့က ကျွန်တော်မျိုးတို့သည် မိမိတို့နှင့် ဆန့်ကျင်၍ပင် သက်သေခံကြပါပြီ ဟု လျှောက်ထားကြလတ္တံ့။ ၎င်းတို့အား ပစ္စုပ္ပန် မျက်မှောက်ဘဝ၏ အသက်ရှင်ခြင်းသည် လှည့်ဖြား၍ ထားရှိခဲ့လေသည်။ (သို့ဖြစ်ပေရာ၊ ၎င်းတို့သည် လောကီစည်းစိမ်တို့၌ နစ်မွန်းလျက်ရှိနေခဲ့ကြလေပြီ။) ၎င်းပြင် ထိုသူများသည် (ထိုရှင်ပြန်ထမည့်နေ့တွင်) မိမိတို့ကိုယ်နှင့်ဆန့်ကျင်၍ မိမိတို့ ကာဖိရ်မယုံမကြည် သွေဖည်ငြင်းပယ်သောသူများပင်ဖြစ်ခဲ့ကြပါသည်ဟု သက်သေခံကြကုန်အံ့။

ذٰلِكَ اَنْ لَّمْ يَكُنْ رَّبُّكَ
مُهْلِكَ الْقُرٰى بِظُلْمٍ
وَّاَهْلُهَا غٰفِلُوْنَ ﴿١٣١﴾

၁၃၁။ ယင်းကဲ့သို့ ရစူလ် တမန်တော်များကို စေလွှတ်ခြင်း၏အကြောင်းမှာ အသင့်အားမွေးမြူတော်မူသော အရှင်မြတ်သည် မြို့ရွာတို့ကို ၎င်းမြို့ရွာများ၌နေထိုင်သောသူများ သတိမမူ အမှတ်မဲ့ရှိနေခိုက် မတရားသဖြင့် (တနည်း) *မတရားမှုကြောင့် ဖျက်ဆီးလိုတော် မမူသောကြောင့်ပင် ဖြစ်ချေသတည်း။* [၂]

---

(၁) **ဂျင်န်များတွင် နဗီတမန်တော်ပွင့်မပွင့်**

လူသားတို့တွင် လူသားတို့အနက်မှ နဗီများပွင့်သကဲ့သို့ ဂျင်(န်)များတွင် ဂျင်(န်)များအနက်မှ နဗီများပွင့်ခဲ့သည်၊ မပွင့်ခဲ့သည်ဟူသော ပြဿနာ၌ အဆိုပြားလျက်ရှိသည်။

တမန်တော်မြတ် (မုဟမ္မဒ်)ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ် ပွင့်တော်မမူမီ အလျင် ➤➤

وَلِكُلٍّ دَرَجٰتٌ مِّمَّا عَمِلُوْا ۭ وَمَا رَبُّكَ بِغَافِلٍ عَمَّا يَعْمَلُوْنَ ﴿١٣٢﴾

၁၃၂။ စင်စစ်မူကား (ထိုဂျင်န် နှင့် လူသတ္တဝါ) အသီးသီးတို့၌၊ ၎င်းတို့၏ အပြုအမူများနှင့် လျော်ညီစွာ *အဆင့်အတန်းများသည် ရှိကြ၏။* [၁] အမှန်သော်ကား အသင့်အား မွေးမြူတော်မူသော အရှင်မြတ်သည် ၎င်းတို့၏ အပြုအမူတို့ကို သတိမမူ လျစ်လျူရှုတော်မူသောအရှင် မဟုတ်ချေ။

وَرَبُّكَ الْغَنِيُّ ذُو الرَّحْمَةِ ۭ اِنْ يَّشَاْ يُذْهِبْكُمْ

၁၃၃။ စင်စစ်သော်ကား၊ အသင့်အား မွေးမြူတော်မူသောအရှင်မြတ်သည် လိုလားတောင့်တခြင်း ကင်းမဲ့တော်မူသောအရှင်၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူပေသတည်း။ [၂]

➤➤ ဂျင်(န်)များတွင်နဗီပွင့်ဘူးခဲ့ပါသလားဟူ၍ သွဟ်ဟာက်အား မေးမြန်းကြသောအခါ သွဟ်ဟာက်က အသင်တို့သည် ကုရ်အာန်ကျမ်းလာ မုက္ခပါဠ်တော်(ဖ: ၁၃၁)ကို မကြားမိကြဘူးလော၊ မဆင်ခြင်မိကြဘူးပေလောဟု မေးလေသည်။ ယင်းသို့ ပြန်လည်မေးခြင်းအားဖြင့် သွဟ်ဟာက်သည် လူများတွင်၎င်း၊ ဂျင်(န်)များတွင်၎င်း၊ နဗီများပွင့်သည်ဟု ယူဆသည်။ ထိုအခါ မေးမြန်းသူများက "ဟုတ်ကဲ့" ဟုဖြေဆိုကြလေသည်။

② ဤမုက္ခပါဠ်တော်၏ အနက်ကို အောက်ပါအတိုင်း နှစ်မျိုးနှစ်စားဖွင့်နိုင်သည် -

(က) အလ္လာဟ်အရှင်မြတ်သည် နဗီတမန်တော်များကို စေလွှတ်တော်မူ၏။ အကြောင်းကား-

ဥပမာ - လူများသည် ကုဖ်ရ်၊ ရှရ်စ်က်မှုများတွင် နစ်မွန်း၍နေကြ၏။ အလ္လာဟ်အရှင်မြတ်၏ တရားဒေသနာတော်များနှင့် ကင်းကွာနေကြ၏။ ထိုအချိန်မျိုးတွင် ထိုအရှင်မြတ်သည် ချက်ချင်း အပြစ်ဒဏ်ပေးတော်မမူချေ။ ထိုအရှင်မြတ်သည် နဗီတမန်တော်များအား စေလွှတ်၍ တရားဓမ္မ ဟောကြားစေတော်မူ၏။ ယင်းသို့ တရားဓမ္မဟောကြားစေတော်မူ ပြီးသည့်နောက်ပိုင်းတွင် ဆက်လက်၍ ကုဖ်ရ်၊ ရှရ်စ်က်တွင် နစ်မွန်း၍ နေကြပြန်သည် ရှိသော်၊ ထိုအခါတွင် ထိုအရှင်မြတ်သည် ပြစ်ဒဏ်ပေးတော်မူသည်ဖြစ်၏။ ယင်းသို့ မဟုတ်ပါသော် လူများက ကျွန်တော်မျိုးတို့ထံသို့ တရားဓမ္မဟောကြားသူ တဦးတယောက်မျှ မလာခဲ့ပါဟူ၍ ဆင်ခြေပေးကြမည်ဖြစ်သည်။

(ခ) အလ္လာဟ်အရှင်မြတ်သည် နဗီတမန်တော်များကို စေလွှတ်တော်မူ၏။ အကြောင်းကား- တရားဓမ္မဟောကြားစေရန် နဗီတမန်တော်များအား စေလွှတ်တော်မူခြင်း၊ ကျမ်းဂန်ပို့ချတော်မူခြင်းမပြုပဲ ပြစ်ဒဏ်ပေးတော်မူခဲ့သည်ရှိသော် မတရားသဖြင့် ပြစ်ဒဏ်ပေးတော်မူရာရောက်ပေမည်။ အလ္လာဟ်အရှင်မြတ်သည် မတရားသဖြင့် မည်သူ့ကိုမျှ ပြစ်ဒဏ်ပေးတော်မူသော အရှင်မဟုတ်ပေ။ အီဗ်နုဂျရီရ်၊ အ-၁၊ စ-၂၈။

① လူဖြစ်စေ၊ ဂျင်န်ဖြစ်စေ အားလုံးတို့၌ ၎င်းတို့၏ အပြုအမူနှင့်အညီ အကျိုးအပြစ်၏ အဆင့်အတန်းများ အသီးသီးရှိပေသည်။

وَيَسْتَخْلِفْ مِنْ بَعْدِكُمْ مَّا يَشَآءُ كَمَآ أَنشَأَكُم مِّن ذُرِّيَّةِ قَوْمٍ ءَاخَرِينَ ١٣٣

အကယ်၍သာ ထိုအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် အသင်တို့(အားလုံး)ကို ရုပ်သိမ်းတော်မူ၍ အသင်တို့မရှိသည့်နောက် အသင်တို့အား အခြားလူမျိုးတို့၏ သားသမီးများ (အဆက်အနွယ်) မှ ပေါက်ပွားစေတော်မူဘိသကဲ့သို့ မိမိအလိုရှိတော်မူသောသူတို့အား အသင်တို့နေရာ၌ ဆက်ခံစေတော်မူအံ့။

إِنَّ مَا تُوعَدُونَ لَءَاتٍ وَمَآ أَنتُم بِمُعْجِزِينَ ١٣٤

၁၃၄။ ဧကန်စင်စစ် အသင်တို့အား ကတိထားရှိပြီးဖြစ်သော (ကိယာမတ် ရှင်ပြန်ထရမည့်နေ့နှင့် ပြစ်ဒဏ်တို့သည်) မလွဲဧကန် ဆိုက်ရောက်မည်သာဖြစ်၏။ ၎င်းပြင် အသင်တို့သည်(မိမိတို့၏ပရိယာယ်ဖြင့် အလ္လာဟ်အရှင်မြတ်အား တိုသို့)မစွမ်းဆောင်နိုင်ရန် တားဆီးနိုင်ကြသူများလည်း မဟုတ်ကြပေ။

---

(၂) လူသားတို့သည် အရေးကိစ္စတိုင်းတွင် တောင့်တမှုများနှင့် ကင်းကြသည်ဟူ၍ အလျင်းမရှိပေ။ ဥစ္စာဓနကုံလုံကြွယ်ဝသူတဦးပင်လျှင် သား၊ မယား၊ နောက်လိုက်ငယ်သား၊ ဆရာ၊ ဆရာဝန် စသည်များကို မှီခိုအားထား၍ နေရ၏၊ အလ္လာဟ်အရှင်မြတ်မှာကား လိုလားတောင့်တမှု အပေါင်းမှ လုံးဝ ကင်းစင်တော်မူသည်။ ထိုအရှင်မြတ်သည် မည်သူ့ကိုမျှ မှီခိုအားထားတော်မူသည်မရှိ။ လူသားများသည်သာလျှင် ထိုအရှင်မြတ်အား မှီခိုအားထားကြရသည်။ ဤအကြောင်းကို ကုရ်အာန်ကျမ်းမြတ်(၃၅း၁၅)တွင်လည်း မိန့်ဆိုထားတော်မူသည်။ ထိုအရှင်မြတ်သည် တပါးတည်းတည်ရှိတော်မူ၏။ ထိုအရှင်မြတ်နှင့်အတူတကွ အဘယ်တစုံတရာမျှ မရှိပေ။

သို့တစေလည်း ထိုအရှင်မြတ်သည် တောင့်တမှုအပေါင်းမှ ကင်းတော်မူ၏။ ယခုလည်း ထိုအရှင်မြတ်သည် တည်ရှိတော်မူခဲ့သည့် အတိုင်းပင် တည်ရှိတော်မူ၏။ နောင်ကိုလည်း ထာဝရ တည်ရှိတော်မူမည်သာ ဖြစ်၏။

ထိုအရှင်မြတ်သည် မိမိ၏အမိန့်တော်များကို နာခံသူများအား တောင့်တရတော်မူသည်မဟုတ်၊ အမိန့်တော်နာခံသူများသည် ထိုအရှင်မြတ်အား အကျိုးပြုကြသည်လည်းမဟုတ်။ ၎င်းတို့သည် ၎င်းတို့၏ အကျိုးကိုသာပြုကြသည်။ ထို့အတူ ထိုအရှင်မြတ်သည် မိမိအားသွေဖည်သူများကို တွန်းလှန်ဖြိုဖျက်ရန် ကြောင့်ကြတော်မူသည် မဟုတ်။ သွေဖည်သူများသည် ထိုအရှင်မြတ်အား တစုံတရာ နစ်နာဆုံးရှုံးအောင် ပြုကြသည်မဟုတ်။ ၎င်းတို့သည် ၎င်းတို့၏ နစ်နာမှုကိုသာလျှင် ပြုကြသည်။ ကျိုးပြစ်ပေးတော်မူခြင်းသည် ထိုအရှင်မြတ်၏ကရုဏာတော်သာလျှင် ဖြစ်ချေသည်။ အဘယ့်ကြောင့်ဆိုသော် ယင်းသို့ ကျိုး၊ ပြစ်၊ ပေးတော်မူခြင်းအားဖြင့် အရည်အချင်း မပြည့်စုံသောသူများသည် ပြည့်စုံ၍သွားကြမည်ဖြစ်သည်။

ကြည့်-အလ်မနာရ်။ အ-၈၊ စ-၁၁၄၊

قُلْ يَٰقَوْمِ ٱعْمَلُوا۟ عَلَىٰ
مَكَانَتِكُمْ إِنِّى عَامِلٌ ۖ
فَسَوْفَ تَعْلَمُونَ مَن
تَكُونُ لَهُۥ عَٰقِبَةُ ٱلدَّارِ ۗ
إِنَّهُۥ لَا يُفْلِحُ ٱلظَّٰلِمُونَ ﴿١٣٥﴾

၁၃၅။ (အို-နဗီတမန်တော်) အသင်တို့သည် (ထို မိစ္ဆာဒိဋ္ဌိတို့အား ဤသို့)ပြောကြားပါလေ "အို-ငါ၏အမျိုးသားအပေါင်းတို့၊ အသင်တို့သည် မိမိတို့ နည်းအတိုင်းသာ ပြုလုပ်ကြလေကုန်။ ငါသည်လည်း (မိမိနည်းလမ်းအတိုင်းပင်) ပြုလုပ်လျက် ရှိချေပြီ။

နောက်ဆုံး စိတ်ချမ်းသာမှုသည် မည်သူတို့အဖို့ဖြစ်သည်ကို မကြာမြင့်မီ အသင်တို့သိရှိကြရလတ္တံ့။ ဧကန်မုချ မတရားပြုကျင့်သော သူတို့သည် အောင်မြင်ကြလိမ့်မည် မဟုတ်ချေ။"

وَجَعَلُوا۟ لِلَّهِ مِمَّا ذَرَأَ مِنَ
ٱلْحَرْثِ وَٱلْأَنْعَٰمِ
نَصِيبًا فَقَالُوا۟
هَٰذَا لِلَّهِ بِزَعْمِهِمْ وَ
هَٰذَا لِشُرَكَآئِنَا ۖ فَمَا
كَانَ لِشُرَكَآئِهِمْ فَلَا
يَصِلُ إِلَى ٱللَّهِ ۖ وَمَا كَانَ
لِلَّهِ فَهُوَ يَصِلُ إِلَىٰ
شُرَكَآئِهِمْ ۗ سَآءَ
مَا يَحْكُمُونَ ﴿١٣٦﴾

၁၃၆။ ၎င်းပြင် ထိုသူတို့သည် အလ္လာဟ်အရှင်မြတ် အဖို့ ထိုအရှင်မြတ် ဖန်ဆင်း ပေါက်ရောက်စေ တော်မူသော လယ်ယာများအနက်မှ၎င်း၊ ခြေ လေးချောင်း သတ္တဝါများအနက်မှ၎င်း၊ ဝေစုဝေပုံကို သတ်မှတ်၍ ထားရှိကြလေသည်။ တဖန် ထိုသူတို့က မိမိတို့၏ ထင်မြင်ယူဆချက်အရ ဤ(ဝေစုဝေပုံ)သည် အလ္လာဟ်အရှင်မြတ်အဖို့ ဖြစ်သည်ဟူ၍၎င်း၊ ဤ(ဝေစုဝေပုံ)သည် ငါတို့၏ ကိုးကွယ်ရာများအဖို့ ဖြစ်သည်ဟူ၍၎င်း၊ ပြောဆိုကြလေသည်။

တဖန် ၎င်းတို့၏ ကိုးကွယ်ရာများအဖို့ ဖြစ်သော (အစုအပုံ)သည် အလ္လာဟ်အရှင်မြတ် အတွက်ဖြစ်သော အစုအပုံများသို့ ရောက်ရှိသည် မဟုတ်ပေ။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်အဖို့ ဖြစ်သော (အစုအပုံ)မှုကား ၎င်းတို့၏ ကိုးကွယ်ရာ များအဖို့ဖြစ်သော ဝေစုဝေပုံသို့ ရောက်လေ၏။ ထိုသူတို့၏ အဆုံးအဖြတ်သည် ဆိုးယုတ်လှပေ တကား။

وَكَذَٰلِكَ زَيَّنَ لِكَثِيرٍ
مِّنَ الْمُشْرِكِينَ قَتْلَ
أَوْلَادِهِمْ شُرَكَاؤُهُمْ
لِيُرْدُوهُمْ وَلِيَلْبِسُوا
عَلَيْهِمْ دِينَهُمْ ۖ
وَلَوْ شَاءَ اللَّهُ مَا فَعَلُوهُ ۖ
فَذَرْهُمْ وَمَا يَفْتَرُونَ ﴿١٣٧﴾

**၁၃၇။** ၎င်းပြင် ထိုနည်းအတိုင်းပင်၊ မုရှိရစ်ကတ်တို့ အနက် များစွာသောသူတို့၏ အမြင်၌ ၎င်းတို့၏ ကိုးကွယ်ရာ (ရှိုင်တွာန်)များက၊ ၎င်းတို့ကို ဖျက်ဆီးကြရန်အတွက်၎င်း၊ ၎င်းတို့အပေါ်၌ ၎င်းတို့၏ ဘာသာကို ရှုပ်ထွေးစေကြရန်အတွက်၎င်း၊ ၎င်းတို့၏ သားသမီးများအား သတ်ဖြတ်ခြင်းကို တင့်တယ်အောင် ပြုလုပ်ထားခဲ့ကြသည်။

၎င်းပြင် အကယ်၍သာ အလ္လာဟ်အရှင်မြတ် အလိုတော်ရှိတော်မူခဲ့ပါလျှင် ထိုသူများသည် ယင်းကဲ့သို့ ပြုလုပ်ကြမည် မဟုတ်ပေ။ သို့ရှိရာ အသင်သည် ထိုသူများကို၎င်း၊ ထိုသူတို့ လုပ်ကြံလိမ်ညာ ပြောဆိုသောစကားများကို၎င်း၊ စွန့်လွှတ်ထားပါလေ။

وَقَالُوا هَٰذِهِ أَنْعَامٌ
وَحَرْثٌ حِجْرٌ لَّا يَطْعَمُهَا
إِلَّا مَن نَّشَاءُ بِزَعْمِهِمْ
وَأَنْعَامٌ حُرِّمَتْ ظُهُورُهَا
وَأَنْعَامٌ لَّا يَذْكُرُونَ
اسْمَ اللَّهِ عَلَيْهَا افْتِرَاءً
عَلَيْهِ ۚ سَيَجْزِيهِم
بِمَا كَانُوا يَفْتَرُونَ ﴿١٣٨﴾

**၁၃၈။** ၎င်းပြင် ယင်းသူတို့က မိမိတို့၏ထင်မြင်ယူဆချက်အရပြောဆိုကြသည်မှာ ထိုထိုသောအခြေလေးချောင်း တိရစ္ဆာန်များသည်၎င်း၊ ထိုထိုသော လယ်ယာများ(မှထွက်သောပစ္စည်းများ)သည်၎င်း၊ ငါတို့အလိုရှိသောသူတို့မှအပ၊အခြားမည်သူမျှ စားသုံးခြင်းမပြုရန် တားမြစ်၍ထားပြီးဖြစ်သည်ဟူ၍၎င်း၊ (ထိုထိုသော) အခြေလေးချောင်း တိရစ္ဆာန်များ(၏) ကျောက်ကုန်းများ(ပေါ်၌တက်စီးခြင်း)သည် "ဟရာမ်" မြစ်တား၍ထားပြီးဖြစ်သည်ဟူ၍၎င်း၊ ပြောဆိုကြ၏။ ၎င်းပြင် (ထိုထိုသော) အခြေလေးချောင်းတိရစ္ဆာန်များကို (လှီးဖြတ်ရာ၌) ထိုသူများသည် အလ္လာဟ်အရှင်မြတ်၏ နာမံတော်ကို တသခြင်းမပြုကြပေ။ (ဤသည်တို့ကား) ထိုအရှင်မြတ်အပေါ်၌ လီဆယ်ပြောဆိုခြင်းမျှဖြစ်ရကား မကြာမြင့်မီ ထိုအရှင်မြတ်သည် ၎င်းတို့အား၊ ၎င်းတို့၏လီဆယ်ပြောဆိုမှုကြောင့် အပြစ်ပေးတော်မူအံ့။

وَقَالُوا مَا فِي بُطُونِ هَٰذِهِ الْأَنْعَامِ خَالِصَةٌ لِّذُكُورِنَا وَمُحَرَّمٌ عَلَىٰ أَزْوَاجِنَا ۖ وَإِن يَكُن مَّيْتَةً فَهُمْ فِيهِ شُرَكَاءُ ۚ سَيَجْزِيهِمْ وَصْفَهُمْ ۚ إِنَّهُ حَكِيمٌ عَلِيمٌ ﴿١٣٩﴾

**၁၃၉။** ထိုမှတပါး ၎င်းတို့က ပြောဆိုကြသည်မှာ "ဤတိရစ္ဆာန်များ၏ ဝမ်းတွင်း၌ ရှိသည့်အရာ (နို့ ရည် သို့မဟုတ် ဗီး)သည် ငါတို့ယောကျ်ားများ အဖို့ချည်းသာ ဖြစ်သည်။ ငါတို့၏ဇနီးများအပေါ်၌ "ဟရာမ်" တားမြစ်ထားပြီး ဖြစ်သည်။ သို့ရာတွင် (၎င်းတိရစ္ဆာန်များ၏ ဝမ်းတွင်း၌ရှိသောဗီးသည်) အသေဖြစ်ခဲ့လျှင်၊ ၎င်းတို့(ယောကျ်ားနှင့်မိန်းမပါ) အတူတူ စားသုံးနိုင်ကြသည်။ (အားလုံး ဖက်စပ် ပါဝင်ကြသည်) ဟု ပြောဆိုကြ၏။

ထိုအရှင်မြတ်သည် မကြာမြင့်မီ (ယင်းကဲ့ သို့ ၎င်းတို့၏ (မမှန်မကန်) ပြောဆိုမှုကြောင့်) ယင်းသူတို့အား အစားပေးတော်မူအံ့။ ဧကန်စင်စစ် ထိုအရှင်မြတ်သည် ဉာဏ်အမြော်အမြင်နှင့် ပြည့်စုံ တော်မူသောအရှင် (အရာခပ်သိမ်းတို့ကို) အကြွင်း မဲ့ သိရှိတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

قَدْ خَسِرَ الَّذِينَ قَتَلُوا أَوْلَادَهُمْ سَفَهًا بِغَيْرِ عِلْمٍ وَحَرَّمُوا مَا رَزَقَهُمُ اللَّهُ افْتِرَاءً عَلَى اللَّهِ ۚ قَدْ ضَلُّوا وَمَا كَانُوا مُهْتَدِينَ ﴿١٤٠﴾

**၁၄၀။** အကြင်သူတို့သည် မချွတ်ဧကန် ဆုံးရှုံး ခဲ့ကြချေပြီ။ ထိုသူတို့သည် မိမိတို့၏သားသမီးများ ကို အသိပညာမရှိပဲ မိုက်မဲစွာသတ်ဖြတ်ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်က မိမိတို့အား ချီးမြှင့် ပေးသနားတော်မူသော အရာ များကို (ထို)အလ္လာဟ်အရှင်မြတ်အပေါ်၌ လီဆယ် ပြောဆိုကာ 'ဟရာမ်' ခွင့်မပြုသောအရာများဟူ၍ သတ်မှတ်ကုန်ကြ၏။

မုချဧကန် ထိုသူတို့သည် လမ်းမှားခဲ့ကြလေ ပြီ။ စင်စစ်တမူကား၊ ၎င်းတို့သည် (ယခင်မူလက လည်း) လမ်းမှန်ကို လိုက်ဘူးသောသူများ မဖြစ်ခဲ့ ကြချေ။

وَهُوَ الَّذِيْٓ اَنْشَاَ جَنّٰتٍ مَّعْرُوْشٰتٍ وَّغَيْرَ مَعْرُوْشٰتٍ وَّالنَّخْلَ وَالزَّرْعَ مُخْتَلِفًا اُكُلُهٗ وَالزَّيْتُوْنَ وَالرُّمَّانَ مُتَشَابِهًا وَّغَيْرَ مُتَشَابِهٍ ۭ كُلُوْا مِنْ ثَمَرِهٖٓ اِذَآ اَثْمَرَ وَاٰتُوْا حَقَّهٗ يَوْمَ حَصَادِهٖ ڮ وَلَا تُسْرِفُوْا ۭ اِنَّهٗ لَا يُحِبُّ الْمُسْرِفِيْنَ ١٤١

၁၄၁။ ထို(အလ္လာဟ်)အရှင်မြတ်သည်ပင်လျှင် (စင်ပေါ်သို့) နွယ်တက်သောဥယျာဉ်များကိုငင်း၊ နွယ်မတက်သောဥယျာဉ်များကိုငင်း၊ နွယ်ပင်ဥယျာဉ်၊ ပင်ထောင်ဥယျာဉ်၊ အရသာ အမျိုးမျိုးနှင့် ပြည့်စုံသော စွန်ပလွံပင်များကိုငင်း၊ ကောက်ပဲ သီးနှံများကိုငင်း၊ ဆင်တူရိုးမှား ဖြစ်သော သံလွင်ပင်များကိုငင်း၊ သလဲသီးများကိုငင်း၊ ပေါက်ရောက် ဖြစ်ပွားစေတော်မူခဲ့လေသည်။

အသင်တို့သည် ယင်း အပင်များ၏ အသီးအနှံများကို သီးပွင့်သောအခါ စားသုံးကြလေကုန်။ ထို့ပြင်တဝ အသင်တို့သည် ၎င်းအသီးအနှံများ ဆွတ်ခူးရိတ်သိမ်းသောနေ့တွင်၊ ၎င်း(အသီးအနှံများနှင့်စပ်လျဉ်း၍ တရားတော်က ပြဋ္ဌာန်းထားသော) တာဝန်ကို ပေးဆပ်ကြလေကုန်။ သို့ရာတွင် အသင်တို့သည် မဖြုန်းတီးကြကုန်လင့်။ အမှန်စင်စစ် ထိုအရှင်မြတ်သည် ဖြုန်းတီးသောသူတို့အား နှစ်သက်တော်မမူချေ။

وَمِنَ الْاَنْعَامِ حَمُوْلَةً وَّفَرْشًا ۭ كُلُوْا مِمَّا رَزَقَكُمُ اللّٰهُ وَلَا تَتَّبِعُوْا خُطُوٰتِ الشَّيْطٰنِ ۭ اِنَّهٗ لَكُمْ عَدُوٌّ مُّبِيْنٌ ١٤٢

၁၄၂။ ၎င်းအပြင် (ထိုအရှင်မြတ်သည်) အခြေလေးချောင်း တိရစ္ဆာန်တို့အနက် (အရပ်အမောင်းကြီးမား၍ ဝန်စည်စလယ်များတင်သော တိရစ္ဆာန်များကိုငင်း၊ အလုံးအရပ်နိမ့်၍ ဝန်စည်စလယ်မတင်နိုင်ပဲ နို့ရည်နှင့် အသားစားရန်ဖြစ်)သော တိရစ္ဆာန်များကိုငင်း၊ (ဖန်ဆင်းတော်မူခဲ့လေသည်)

အသင်တို့သည် မိမိတို့အား အလ္လာဟ်အရှင်မြတ်က ချီးမြှင့်ပေးသနားတော်မူသော အစာများကို စားသုံးကြလေကုန်။ ထို့ပြင် အသင်တို့သည် ရှိုင်တွာန်၏ ခြေရာများကို မလိုက်ကြကုန်လင့်။

အကြောင်းမူကား ယင်းရှိုင်တွာန်သည် အသင်တို့၏ ထင်ရှားသော ရန်သူပင် ဖြစ်ချေသတည်း။ ၁

ثَمٰنِيَةَ اَزْوَاجٍ ۚ مِنَ الضَّاْنِ اثْنَيْنِ وَمِنَ الْمَعْزِ اثْنَيْنِ ۗ قُلْ ءٰٓالذَّكَرَيْنِ حَرَّمَ اَمِ الْاُنْثَيَيْنِ اَمَّا اشْتَمَلَتْ عَلَيْهِ اَرْحَامُ الْاُنْثَيَيْنِ ۗ نَبِّـُٔوْنِيْ بِعِلْمٍ اِنْ كُنْتُمْ صٰدِقِيْنَ ﴿١٤٣﴾

**၁၄၃။** (အသင်တို့သည် မိမိတို့၏ စိတ်ထင်ရာအတိုင်း "စားသုံးပိုင်ခွင့် ရှိသည်ဟူ၍၎င်း၊ စားသုံးပိုင်ခွင့်မရှိဟူ၍၎င်း၊ ထင်မြင်ယူဆပြောဆိုလျက်ရှိကြသော အခြေလေးချောင်း တိရစ္ဆာန်တို့အနက် ထို အရှင်မြတ်သည် အထီးအမ) ရှစ်ကောင်ကို (ဖန်ဆင်းတော် မူခဲ့လေသည်။) သိုးများအနက် အထီးအမ နှစ်ကောင်၊ ထိုနည်းတူ ဆိတ်များအနက် အထီးအမ နှစ်ကောင်၊ (ဖန်ဆင်းတော်မူလေ၏။

အို–နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့) ပြောဆိုမေးမြန်းပါလေ။ (အချင်းတို့) ထိုအရှင်မြတ်သည် အထီးနှစ်ကောင်ကို "ဟရာမ်" ဟူ၍ တားမြစ်တော်မူပါသလော။ သို့တည်းမဟုတ် "အမ" နှစ်ကောင်ကို တားမြစ်တော်မူပါသလော။ သို့တည်းမဟုတ် အမနှစ်ကောင် သားအိမ်များတွင် လွယ်ထားသော ကလေးများကို တားမြစ်တော်မူပါသလော။ အကယ်၍အသင်တို့သည် မှန်ကန်စွာပြောဆိုသူများဖြစ်ကြပါလျှင်၊ ငါ့အား သက်သေသာကေ၊ အထောက်အထားနှင့်တကွ တင်ပြကြလေကုန်။

---

(၁) အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသော အရာများကိုစားသုံးကြရမည်။ ရှိုင်တွာန်၏ ခြေရာကို မလိုက်ကြရ။ ရှိုင်တွာန်၏ ခြေရာကိုလိုက်ခြင်းမှာ ထိုအရှင်မြတ် ချီးမြှင့်ထားတော်မူသော အရာများကို အကြောင်းမဲ့ တရားဝင် သက်သေသာကေမရှိပဲလျက် ဟရာမ်ပြုခြင်း၊ ကုဖ်ရ်၊ ရှရ်စ်က်၊ ရုပ်ထုကိုးကွယ်မှုများ အတွက် အကြောင်းတရား ပြုလုပ်ခြင်းများဖြစ်သည်။ ရှိုင်တွာန်သည် ထင်ရှားသော ရန်သူပင်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ယင်းရှိုင်တွာန်သည် မိမိ၏ တပည့်များကို အလ္လာဟ်အရှင်မြတ် ချီးမြှင့် ထားတော်မူသော အရာများနှင့် ကင်းကွာစေ၏။ ထို့ပြင်တဝ ၎င်း၏ နောက်လိုက်တပည့်များသည် နောင်တမလွန်ဘဝတွင် ငရဲလားကြရဦးမည်လည်း ဖြစ်သည်။

وَمِنَ الْاِبِلِ اثْنَيْنِ وَمِنَ
الْبَقَرِ اثْنَيْنِ ۗ قُلْ ءٰٓالذَّكَرَيْنِ
حَرَّمَ اَمِ الْاُنْثَيَيْنِ اَمَّا
اشْتَمَلَتْ عَلَيْهِ اَرْحَامُ
الْاُنْثَيَيْنِ ۗ اَمْ كُنْتُمْ شُهَدَآءَ
اِذْ وَصّٰىكُمُ اللّٰهُ بِهٰذَا ۚ فَمَنْ
اَظْلَمُ مِمَّنِ افْتَرٰى عَلَى اللّٰهِ
كَذِبًا لِّيُضِلَّ النَّاسَ بِغَيْرِ
عِلْمٍ ۗ اِنَّ اللّٰهَ لَا يَهْدِى
الْقَوْمَ الظّٰلِمِيْنَ ﴿١٤٤﴾

၁၄၄။ ထိုနည်း တူစွာ (ထို အရှင်မြတ်သည်) ကုလားအုတ်များအနက် အထီးနှင့်အမ နှစ်ကောင်၊ ထို့အတူ နွားများအနက် အထီးနှင့်အမ နှစ်ကောင် ကို (ဖန်ဆင်းတော်မူလေသည်။

အို-နဗီတမန်တော်)အသင်သည် (၎င်းတို့အား ဤသို့) ပြောဆိုမေးမြန်းပါလေ။ (အချင်းတို့) ထိုအရှင်မြတ်သည် "အထီးနှစ်ကောင်ကို" "ဟရာမ်" ဟူ၍ တားမြစ်တော်မူပါသလော။ သို့တည်းမဟုတ် "အမ" နှစ်ကောင်ကို တားမြစ်တော်မူပါသလော။ သို့တည်းမဟုတ် "အမ" နှစ်ကောင် သားအိမ်များ တွင် လွယ်ထားသော ကလေးများကို တားမြစ်တော် မူပါသလော။

သို့တည်းမဟုတ် အသင်တို့သည် အလ္လာဟ် အရှင်မြတ်က အသင်တို့အား ဤအမိန့်တော်ကို ချမှတ်ပေးတော်မူစဉ်အခါ၌ (သက်သေများအဖြစ်) *ရှေ့တော်မှောက်တွင် ရှိနေကြပါသလော။* [၁] သို့ဖြစ် ပေရာ အသိပညာ (သက်သေသာဓက)မရှိပဲလျက် လူခပ်သိမ်းတို့အား လမ်းမှားစေခြင်းငှာ၊ အလ္လာဟ် အရှင်မြတ်အပေါ်၌မုသားကို လီဆယ်ပြောဆိုသူထက် မတရားသောသူသည် မည်သူ ဖြစ်နိုင်ပါသနည်း။ စင်စစ်ကေန် အလ္လာဟ်အရှင်မြတ်သည် (ယင်းကဲ့ သို့)မတရားသောသူတို့အား လမ်းမှန်သို့ ပို့ဆောင် တော်မူသည် မဟုတ်ချေ။

(၁) တစုံတရာကို ဟရာမ်ပြုခြင်း။ ဟလာလ်ပြုခြင်းသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြင့်သာလျှင် ဖြစ်နိုင်၏။ ထိုအရှင်မြတ်၏အမိန့်တော်သည် (က)နဗီတမန်တော်များမှ တဆင့်သော်၎င်း၊ (ခ)ကြား အဆက်အသွယ် မပါရှိပဲ၊ အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင် တိုက်ရိုက် မိန့်ကြားတော်မူခြင်းဖြင့်သော်၎င်း၊ ရောက်ရှိလာနိုင်၏။ ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် မုရှိရစ်က်တို့ထံတွင် အဆိုပါ အကြောင်းနှစ်ရပ်လုံး မရှိကြောင်း အထင်အရှား သိရပေသည်။ ပထမအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်(ဖ်း၁၄၄)တွင် ➢➢

၁၄၅။ (အို-နဗီတမန်တော်) အသင်သည် (ယင်းသူတို့အား ဤသို့) ပြောကြားပါလေ။ (အချင်းတို့) ငါသည် မိမိထံသို့ (အလ္လာဟ်အရှင်မြတ်အထံတော်မှ) ကျရောက်လာသော "ဝဟ်ယ်" အမိန့်တော်တွင် (ယခုအငြင်းပွားလျက်ရှိသော တိရစ္ဆာန်များအနက်) တစုံတခုကို မည်သည့် စားသုံးသူအပေါ်၌မျှ ၎င်းကို စားသုံးခြင်းသည်"ဟရာမ်"ဟူ၍ *တားမြစ်ထားသည်ကို မတွေ့ရှိရချေ။* [၁] သို့ရာတွင် အသေသား၊ သို့မဟုတ် စီးထွက်သော သွေး၊ သို့မဟုတ် ဝက်တိရစ္ဆာန်၏ အသားဖြစ်ခဲ့လျှင် ထိုအရာများသည် အလွန်ညစ်ထေး၍ *မသန့်စင်သောကြောင့်၊* [၂] သို့မဟုတ် ဥပဒေကို ကျူးလွန်ခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်မှတပါး အခြားကိုရည်စူး၍ သတ်မှတ်ခဲ့လျှင် ("ဟရာမ်" ဟူ၍ တားမြစ်ထားတော်မူလေသည်။)

قُلْ لَّآ اَجِدُ فِىْ مَآ اُوْحِىَ اِلَىَّ مُحَرَّمًا عَلٰى طَاعِمٍ يَّطْعَمُهٗٓ اِلَّآ اَنْ يَّكُوْنَ مَيْتَةً اَوْ دَمًا مَّسْفُوْحًا اَوْ لَحْمَ خِنْزِيْرٍ فَاِنَّهٗ رِجْسٌ اَوْ فِسْقًا اُهِلَّ لِغَيْرِ اللّٰهِ بِهٖ ۚ فَمَنِ اضْطُرَّ غَيْرَ بَاغٍ وَّلَا عَادٍ فَاِنَّ

➤➤ "အသင်တို့သည် မှန်ကန်စွာ ပြောဆိုသူများ ဖြစ်ကြပါလျှင် ငါ့အား သက်သေသာဓကနှင့် တကွတင်ပြကြ" ဟူ၍၎င်း၊ ဒုတိယအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန် (၆း၁၁၅) တွင် "အလ္လာဟ်အရှင်မြတ်က အသင်တို့ကို ဤအမိန့်ပေးတော်မူသည့် အခါ အသင်တို့သည် ရှေ့တော်မှောက်တွင် အသိသက်သေများရှိနေခဲ့ကြပါသလော" ဟူ၍၎င်း သတိပေးငြင်းပယ်ထားတော်မူသည်။

① မုရှ်ရစ်က်တို့က၊ ၎င်းတို့၏ထင်မြင်ချက်အတိုင်း ဟလာလ်၊ ဟရာမ်၊ ပြုလုပ်ပြောဆိုကြသော အကြင်တိရစ္ဆာန်များနှင့်ပတ်သက်၍ တမန်တော်မြတ်ထံ ရောက်ရှိလာခဲ့သော "ဝဟ်ယ်" အမိန့်တော်များတွင် "ဟရာမ်" ဟူ၍ မပါရှိပေ။ သို့ရာတွင် ဤမုက္ခပါဠ်တော်တွင် ပါရှိသည့်အတိုင်း ၄-ခုသောအရာသည် ဟရာမ်ဖြစ်ချေသည်။

ဤမုက္ခပါဠ်တော်၏ဘာသာပြန်တွင် "အငြင်းပွားလျက်ရှိသော တိရစ္ဆာန်များနှင့်ပတ်သက်၍" ဟူ၍ ထည့်သွင်း ဖော်ပြထားခြင်းမှာ ဟရာမ်ဟူ၍ မြစ်ထားထားတော်မူသောအရာမှာ အဆိုပါ (၄)ခုသာလျှင် မဟုတ်ကြောင်း၊ (ကုရ်အာန်ကျမ်းမြတ်တွင်၎င်း၊) ဟဒီဆ်တော်များတွင်၎င်း၊ အချို့တိရစ္ဆာန်များကိုလည်း ဟရာမ်ဟူ၍ မြစ်တား ထားတော်မူသည့်အကြောင်း သိရှိစေရန်ပင်ဖြစ်သည်။

② အချို့ပညာရှင်များက "ရစ်ဂ်ျစ်" (အလွန်ညစ်ထေးသော) ဟူသောပုဒ်ကို ဝက်(တိရစ္ဆာန်)၏အသား၏ နာမဝိသေသန သက်သက်ဖြစ်သည်ဟု ဆိုကြသည်။ ၎င်းနောက် ဤသည့်အချက်ကို ဝက်(တိရစ္ဆာန်)တကောင်လုံး အညစ်အကြေးဖြစ်ကြောင်း အထောက်အထားပြုကြသည်။ အချို့ကမူ ထိုဝက်တိရစ္ဆာန်၏အမွေးသည်ပင်လျှင် အညစ်အကြေး ဖြစ်သည်ဟု ဆိုကြသည်။ သို့ရာတွင် ထို "ရစ်ဂ်ျစ်" ဟူသောပုဒ်သည် ဖော်ပြပါ (ဝက်တိရစ္ဆာန်၊ သွေး၊ အသေသား) သုံးမျိုးလုံး၏ နာမဝိသေသနဖြစ်သည်ဟူသော ကျွန်ုပ်တို့ နှစ်ခြိုက်သော အဆိုသည် အပေါ်လွင်ဆုံး၊ အထင်အရှားဆုံး၊ အနီးစပ်ဆုံးပင်ဖြစ်သည်။

رَبَّكَ غَفُورٌ رَّحِيمٌ ﴿١٤٥﴾

သို့ပါလျက်အကြင်သူသည် (ထိုထိုသောအရာများကိုပင်) အရသာခံစားလိုခြင်း၊ စည်းကမ်းကျူးလွန်ဖောက်ဖျက်ခြင်း မရှိပဲ မလွှဲမရှောင်သာ ဖြစ်၍ (အသက်မသေရုံမျှသာ စားသုံး)ခဲ့ပါမူ၊ အသင့်အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်သည် ဧကန်အမှန် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော် မူသောအရှင်၊ အလွန်တရာ သနား ညှာတာတော် မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَعَلَى الَّذِينَ هَادُوا
حَرَّمْنَا كُلَّ ذِي ظُفُرٍ ۖ
وَمِنَ الْبَقَرِ وَالْغَنَمِ حَرَّمْنَا
عَلَيْهِمْ شُحُومَهُمَا إِلَّا مَا
حَمَلَتْ ظُهُورُهُمَا
أَوِ الْحَوَايَا أَوْ مَا اخْتَلَطَ
بِعَظْمٍ ۚ ذَٰلِكَ جَزَيْنَاهُم
بِبَغْيِهِمْ ۖ وَإِنَّا
لَصَادِقُونَ ﴿١٤٦﴾

**၁၄၆။** စင်စစ်တမူကား ငါအရှင်မြတ်သည် ယဟူဒီ ဖြစ်ကုန်သောသူတို့အပေါ်၌ ခြေသည်းလက်သည်း ရှိသော တိရစ္ဆာန်အသီးသီးကိုငင်း၊ နွား၊ ဆိတ်တို့ အထဲမှ ထိုနွားနှင့်ဆိတ်တို့၏ ကျောက်ကုန်းနှင့် ကပ်နေသောအဆီ၊ သို့မဟုတ် အူများနှင့်ကပ်နေ သောအဆီ၊ သို့မဟုတ် အရိုးနှင့်ကပ်နေသောအဆီ များမှတပါး ထိုနွားနှင့်ဆိတ်တို့၏အထဲမှ အခြား အဆီများကိုငင်း၊ *"ဟရာမ်" ဟူ၍ တားမြစ်တော်မူခဲ့လေသည်။* [၁]

ဤ(သို့ တားမြစ်ခြင်း)ကား၊ ၎င်းတို့အား အရှင်မြတ်သည်၊ ၎င်းတို့၏ ပုန်ကန်မှုကြောင့် ပြစ်ဒဏ် ပေးတော်မူခြင်းပင် ဖြစ်ချေသည်။ အမှန် စင်စစ်သော်ကား ငါ အရှင်မြတ်သည် မုချဧကန် မှန်ကန်စွာ မိန့်ကြားတော်မူသော အရှင်သာလျှင် ဖြစ်တော်မူသည်။

---

(၁) ဤမုဂ္ဂပါဠ်တော်၏ အစတွင်ပါရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ်သည် ယဟူဒီများအပေါ်၌ ခြေသည်း၊ လက်သည်း၊ ပါရှိသော တိရစ္ဆာန်များနှင့် နွား၊ဆိတ်တို့၏ အချို့အဆီများကို ဟရာမ်ပြုထားတော်မူခဲ့၏။ ယင်းသို့ ဟရာမ်ပြုတော်မူရာ၌ ထိုထိုသောအရာများကို ဟရာမ်ပြုခြင်းကား အဓိကမဟုတ်ပေ။ ➢➢

فَإِنْ كَذَّبُوكَ فَقُلْ رَّبُّكُمْ ذُو رَحْمَةٍ وَاسِعَةٍ ۚ وَلَا يُرَدُّ بَأْسُهُ عَنِ الْقَوْمِ الْمُجْرِمِينَ ﴿١٤٧﴾

**၁၄၇။** ထို့နောက်သော်မှပင် (အို-နဗီတမန်တော်) အကယ်၍ ၎င်းတို့သည် အသင့်အား မုသားပြောဆိုသည်ဟူ၍ စွပ်စွဲကြပါလျှင်၊ အသင်သည်(၎င်းတို့ကို ဤသို့) ဖြေကြားပါလေ။ အသင်တို့အား ဖန်ဆင်းမွေးမြူတော် မူသော အရှင်မြတ်သည် အလွန်ကြီးကျယ်သော မဟာကရုဏာတော်ရှင် ဖြစ်တော်မူသည်။ သို့ရာတွင် ထိုအရှင်မြတ်၏ပြစ်ဒဏ်သည်လည်း အပြစ်ရှိသောသူတို့ အပေါ်မှ ဆုတ်ခွာ၍ (ရှေ့လျော) သွားလိမ့်မည် မဟုတ်ပေ။

سَيَقُولُ الَّذِينَ أَشْرَكُوا لَوْ شَاءَ اللَّهُ مَا أَشْرَكْنَا وَلَا آبَاؤُنَا وَلَا حَرَّمْنَا مِنْ شَيْءٍ ۚ كَذَٰلِكَ كَذَّبَ الَّذِينَ مِنْ قَبْلِهِمْ حَتَّىٰ

**၁၄၈။** အခြားအရာများကို အလ္လာဟ်အရှင်မြတ်နှင့်တွဲဖက်ကိုးကွယ်သော သူတို့သည် မကြာမြင့်မီ ပြောဆိုကြမည်မှာ "အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် အလိုရှိတော်မူခဲ့ပါလျှင် ကျွန်ုပ်တို့သည်၎င်း၊ ကျွန်ုပ်တို့၏ဘိုး၊ ဘေး၊ ဘီ၊ ဘင်တို့သည်၎င်း၊ တစုံတရာကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်၍ ကိုးကွယ်နိုင်ကြမည်လည်း မဟုတ်ပါ။ တစုံတရာကို"ဟရာမ်"ဟူ၍ တားမြစ်နိုင်ကြမည်လည်း *မဟုတ်ပါဟု ပြောဆိုကြကုန်အံ့။* ၁

---

➤➤ ယဟူဒီများအား ၎င်းတို့၏ပုန်ကန်မှုကြောင့် အပြစ်ဒဏ်ပေးခြင်းသည်သာ အဓိကဖြစ်ပေသည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် တခါတရံ အပြစ်များကြောင့် အချို့အရာများကို ဟရာမ်ပြုလုပ်ကြောင်း သိရှိရပေသည်။ ဤမုကွပါဋ်တော်နှင့် ဆက်စပ်၍ ကုရ်အာန် (၄း၁၆၀-၁၆၁)ကို ရှုပါကုန်။

(၁) အရဗ်မုရှ်ရစ်က်များက "အကယ်၍ ကျွန်ုပ်တို့နှင့် ကျွန်ုပ်တို့၏ဘိုးဘေးတို့၏ လမ်းစဉ်သည် မှားသောလမ်းစဉ် ဖြစ်ခဲ့ပါလျှင်၊ အလ္လာဟ်အရှင်မြတ်သည် အဘယ့်ကြောင့် ကျွန်ုပ်တို့အား လမ်းမှားသူများအဖြစ်ဖြင့် နေစေတော်မူခဲ့ပါသနည်း။ ထိုအရှင်မြတ်သည် ကျွန်ုပ်တို့အား လမ်းမှန်သူများဖြစ်ရန် အဘယ့်ကြောင့် လိုလားတော်မမူပါသနည်း။ ဖြစ်ပျက်သမျှ အားလုံးသည် ထိုအရှင်မြတ်၏ အလိုတော်အတိုင်းသာ ဖြစ်သည်ဖြစ်ရကား၊ ကျွန်ုပ်တို့ပြုလုပ်ကြသော အရာသည်လည်း ထိုအရှင်မြတ်၏ အလိုတော်ကြောင့်သာလျှင် ဖြစ်သည်" ဟုဆိုကြ၏။

ကုရ်အာန် ကျမ်းမြတ်သည် မုရှ်ရစ်က်တို့၏ အဆိုပါ ထင်မြင်ယူဆချက်နှင့် ပတ်သက်၍ မိုက်မဲသော အမြင်ကန်းသော၊ ရမ်းဆမှုမျှသာ ဖြစ်သည်ဟု အဆုံးအဖြတ်ပေး၏။ ၎င်းပြင် ဤအကြောင်းနှင့် ပတ်သက်၍ မုရှ်ရစ်က်တို့ထံတွင် အသိတရားလည်း မရှိပေဟုဆို၏။ ➤➤

ذَاقُوا بَأْسَنَا ۗ قُلْ هَلْ عِندَكُم مِّنْ عِلْمٍ فَتُخْرِجُوهُ لَنَا ۖ إِن تَتَّبِعُونَ إِلَّا الظَّنَّ وَإِنْ أَنتُمْ إِلَّا تَخْرُصُونَ ﴿١٤٨﴾

(ယင်းကဲ့သို့ ငြင်းပယ်ခြင်းသည် အထူးအဆန်းမဟုတ်ပေ။ (အကြောင်းမူကား) ၎င်းတို့အလျင်ရှိခဲ့ဘူးကြသော သူတို့သည်လည်း (အလ္လာဟ်အရှင်မြတ်၏ နဗီတမန်တော်များအား ဤနည်းအတိုင်းပင်၊ "မဟုတ်မမှန်ပြောဆိုသူများ" ဟူ၍ စွပ်စွဲခဲ့ကြကုန်၏။ နောက်ဆုံးတွင် ယင်းသူတို့သည် ငါအရှင်မြတ်၏ပြစ်ဒဏ်ကို မြည်းစမ်းခဲ့ကြရလေသည်။

(အို-နဗီတမန်တော်) အသင်သည် (ထိုသူတို့အား အချင်းတို့) "အသင်တို့ထံ တစုံတရာ သက်သေသာဓက ရှိပါသလော။ ရှိခဲ့ပါလျှင် ငါတို့၏ ရှေ့၌ ထုတ်ဖော် တင်ပြကြလေကုန်။ အသင်တို့သည် (သက်သေသာဓက အလျင်းမရှိပဲ မိမိတို့၏) ထင်မြင်ယူဆချက်ကိုသာ လိုက်နာ ကျင့်သုံးကြပေသည်။ ထို့ပြင် အသင်တို့သည် ရမ်းဆပြောဆိုသူများသာ ဖြစ်ကြပေသည်။

---

➤➤ အလ္လာဟ်အရှင်မြတ် အလိုတော်ရှိပါလျှင် လူသားအားလုံးတို့အား တခုတည်းသော တရားလမ်းစဉ်အပေါ်၌ မုချရပ်တည်စေတော်မူနိုင်သည်။ ဤသည် ထိုအရှင်မြတ်၏ လက်တော်အတွင်း၌ ရှိသောကိစ္စပင်ဖြစ်သည်။ ကြည့်-ကုရ်အာန် (၆း၃၅။ ၁၀း၉၉။ ၁၁း၁၁၈-၁၁၉)

သို့ရာတွင် ထိုအရှင်မြတ်၏ အလိုတော်၏ အဆုံးအဖြတ်ကား ဤသို့ဖြစ်၏။ ထိုအရှင်မြတ်သည် လူသားတို့အား အသိဉာဏ်၊ ရည်စူးခွင့်၊ အစွမ်းသတ္တိများကို ပေးထားတော်မူ၏။ အဖြစ်အပျက် အားလုံးအတွက် အကြောင်းတရားကိုင်၊ အပြုအမူ အားလုံးအတွက် အကျိုးတရားကိုင် သတ်မှတ်ထားတော်မူ၏။

ယင်းသို့အားဖြင့် အလင်းရောင်နှင့်အတူ အမိုက်မှောင် အမှန်နှင့်အတူအမှား၊ တရားနှင့်အတူ မတရား၊ လမ်းမှန်နှင့်အတူ လမ်းမှား၊ စသည်တို့ကို အသီးသီး ဖွင့်လှစ်ခဲ့၏။ သို့ရှိရာ ယခုမူမည်သူမဆို၊ မိမိ၏စိတ်ဆန္ဒအတိုင်း တရားလမ်းမှန်လိုက်လိုက လိုက်နိုင်၏။ လမ်းမှားကို လိုက်လိုကလည်း လိုက်နိုင်၏။ ကြိုက်နှစ်သက်ရာကို ရွေးချယ်နိုင်၏။

ဤမုက္ခပါဌ်တော်ကို ထောက်ရှုခြင်းအားဖြင့် "အကယ်၍ အလ္လာဟ်အရှင်မြတ်အလိုတော်ရှိပါလျှင် ကျွန်ုပ်တို့သည် မကောင်းမှု ပြုကြမည်မဟုတ်" ဟု ဆိုခြင်းသည် မိုက်မဲသော စကား ကုဖ်ရ်၏ စကားသာ ဖြစ်ချေသည်။ (အဇုလ်ကလာမ်) အ-၁၊ စ-၄၇၁။

قُلْ فَلِلّٰهِ الْحُجَّةُ الْبَالِغَةُ ۚ فَلَوْ شَآءَ لَهَدٰىكُمْ أَجْمَعِيْنَ ﴿١٤٩﴾

၁၄၉။ (အို–နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (ဟယ်–အချင်းတို့) အလ္လာဟ် အရှင်မြတ်၏ သက်သေ သာဓကသည်သာလျှင် (တိကျ)ပြည့်စုံလုံလောက်သော သာဓကပင်ဖြစ်၏။ သို့ဖြစ်ပေရာ အကယ်၍သာ ထိုအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် အသင်တို့အားလုံးကို လမ်းမှန်သို့ ဧကန်မုချ ပို့ဆောင်တော်မူခဲ့ပြီးဖြစ်အံ့။ [1]

قُلْ هَلُمَّ شُهَدَآءَكُمُ الَّذِيْنَ يَشْهَدُوْنَ أَنَّ اللّٰهَ حَرَّمَ هٰذَا ۚ فَإِنْ شَهِدُوْا فَلَا تَشْهَدْ مَعَهُمْ ۚ وَلَا تَتَّبِعْ أَهْوَآءَ الَّذِيْنَ كَذَّبُوْا بِاٰيٰتِنَا وَالَّذِيْنَ لَا يُؤْمِنُوْنَ بِالْاٰخِرَةِ وَهُمْ بِرَبِّهِمْ يَعْدِلُوْنَ ﴿١٥٠﴾

၁၅၀။ (အို–နဗီတမန်တော်) အသင်သည် (၎င်းတို့အား) အသင်တို့သည် အလ္လာဟ် အရှင်မြတ်က "ဤအရာ(များ)ကို 'ဟရာမ်' ဟူ၍ တားမြစ်ထားတော်မူသည်ဟု သက်သေခံကြမည့် အသင်တို့၏ သက်သေများကို ခေါ်ယူခဲ့ကြလေကုန် ဟု ပြောဆိုပါလေ။ အကယ်၍ ၎င်း(သက်သေ)တို့သည် (မုသား) သက်သေခံကြသည့် တိုင်အောင် အသင်သည် ၎င်းတို့နှင့်အတူ သက်သေမခံပါလေနှင့်။ [2]

၎င်းပြင် အသင်သည် အကြင်သူများ၏ အလို ဆန္ဒများကို မလိုက်ပါလေနှင့်။ ထိုသူများသည် ငါအရှင်မြတ်၏ အမိန့်တော်များကို မဟုတ်မမှန်ဟုပြောဆိုကြသည်။ ၎င်းပြင် နောင်တမလွန်ဘဝကိုပင် မယုံကြည်ကြသည့်ပြင် မိမိတို့အား မွေးမြူဖန်ဆင်းတော် မူသော အရှင်နှင့် တန်းတူထား၍ (အခြားအရာများကိုလည်း) ကိုးကွယ်ကြသူတို့၏ အလိုဆန္ဒများကိုလည်း မလိုက်ပါလေနှင့်။

---

(၁) အလ္လာဟ်အရှင်မြတ်သည် လူသားတို့ထံမှ အချုပ်အချယ်မရှိ၊ စေတနာအလျောက် လွတ်လပ်စွာ အီမာန်ယုံကြည်မှုကိုသာ အလိုရှိတော်မူသည်၊ အကယ်၍ အလ္လာဟ်အရှင်မြတ်သည် လူသားတို့ထံမှ အတင်းအကြပ် အီမာန် ယုံကြည်မှုကို အလိုရှိတော်မူခဲ့ပါလျှင် ထိုအရှင်မြတ်သည် ယင်းသို့လည်း ပြုစွမ်းတော် ➤➤

قُلْ تَعَالَوْا أَتْلُ مَا حَرَّمَ
رَبُّكُمْ عَلَيْكُمْ أَلَّا تُشْرِكُوا بِهِ
شَيْئًا وَبِالْوَالِدَيْنِ
إِحْسَانًا وَلَا تَقْتُلُوا
أَوْلَادَكُمْ مِنْ إِمْلَاقٍ نَحْنُ
نَرْزُقُكُمْ وَإِيَّاهُمْ وَلَا تَقْرَبُوا
الْفَوَاحِشَ مَا ظَهَرَ مِنْهَا وَمَا
بَطَنَ وَلَا تَقْتُلُوا النَّفْسَ الَّتِي
حَرَّمَ اللَّهُ إِلَّا بِالْحَقِّ ذَٰلِكُمْ
وَصَّاكُمْ بِهِ لَعَلَّكُمْ
تَعْقِلُونَ ﴿١٥١﴾

၁၅၁။ (အို–နဗီတမန်တော်) အသင်သည် (ထိုသူများအား ဤသို့) ပြောကြားကြပါလေ။ အသင်တို့လာကြကုန်၊ အသင်တို့၏အရှင်က အသင်တို့၏အပေါ်၌ ဟရာမ်ဟူ၍ တားမြစ်ထားတော်မူသောအရာများကို ကျွန်ုပ် ရွတ်ဖတ်ပြအံ့။ (ထိုအရာများအား) အသင်တို့သည် အလ္လာဟ် အရှင်မြတ်နှင့်ယှဉ်တွဲ၍ မည်သည့် အရာကိုမျှ မကိုးကွယ်ကြကုန်လင့်။ ၎င်းပြင် (အသင်တို့သည်) မိဘနှစ်ပါးနှင့်ကောင်းစွာ ဆက်ဆံခြင်း(ပြုကြကုန်)။ ၎င်းပြင် (အသင်တို့သည်) မိမိတို့၏ သားသမီးများကိုဆင်းရဲမှုကြောင့် မသတ်ဖြတ်ကြကုန်လင့်။

ငါ အရှင်မြတ်သည် အသင်တို့ကို ၎င်း၊ ထိုသူများကို၎င်း၊ စားနပ်ရိက္ခာ ပေးတော်မူသည်။ ၎င်းပြင် အသင်တို့သည် ထင်ရှားသော သို့မဟုတ်လျှို့ဝှက်သော စက်ဆုပ်ရွံရှာရက်ဖွယ်ရာ ယုတ်မာမှုများ၏အနီးသို့ပင် မချဉ်းကပ်ကြကုန်လင့်။ ၎င်းပြင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်က (သတ်ဖြတ်ခြင်းမပြုရန်) ဟရာမ်ဟူ၍တားမြစ်ထားတော်မူသောအသက်ဇီဝိန်ကို မသတ်ဖြတ်ကြကုန်လင့်။ သို့ရာတွင် (အစ္စလာမ်) တရားတော်နှင့်အညီ (သတ်ဖြတ်ပိုင်ခွင့်ချွင်းချက်ရှိပေသည်)။ ထိုအရှင်မြတ်သည် အသင်တို့သိနားလည်ကြရန်အလို့ငှာ အသင်တို့အား ဤသည်တို့ကို လေးနက်စွာ အမိန့်ချမှတ်တော်မူသည်။

---

➤➤ မှုနိုင်ပေသည်။ သို့ရာတွင် ထိုကဲ့သို့ အတင်းအကြပ် အီမာန်ယုံကြည်ရသည့် အတွက် လူသားတို့သည် ကုသိုလ်အကျိုးကို၎င်း၊ ချီးမွမ်းခြင်းကို ၎င်း၊ ခံထိုက်ကြမည်မဟုတ်ပေ။(ဂျဆ်ဆွာဆ်)

(၂) "သို့ဖြစ်ရာ အသင်သည် ထိုသူများနှင့်အတူ သက်သေမခံပါလေနှင့်" ဟူသည် အသင်သည် (ထိုသူတို့၏) ထိုသက်သေခံချက်နှင့် စပ်လျဉ်း၍ ထိုသူတို့အား မထောက်ခံပါလေနှင့်၊ ဤမျှမက အသင်သည်ထိုသူတို့အား ထိုသက်သေခံချက် မှားယွင်းကြောင်းကို ထုတ်ဖော်ပြောပြပါလေဟူ၍။

وَلَا تَقْرَبُوا مَالَ الْيَتِيمِ إِلَّا بِالَّتِي هِيَ أَحْسَنُ حَتَّىٰ يَبْلُغَ أَشُدَّهُ ۖ وَأَوْفُوا الْكَيْلَ وَالْمِيزَانَ بِالْقِسْطِ ۖ لَا نُكَلِّفُ نَفْسًا إِلَّا وُسْعَهَا ۖ وَإِذَا قُلْتُمْ فَاعْدِلُوا وَلَوْ كَانَ ذَا قُرْبَىٰ ۖ وَبِعَهْدِ اللَّهِ أَوْفُوا ۚ ذَٰلِكُمْ وَصَّاكُم بِهِ لَعَلَّكُمْ تَذَكَّرُونَ ﴿١٥٢﴾

၁၅၂။ ထို့ပြင် အသင်တို့သည် ကောင်းမွန်သော နည်းလမ်းမှတပါး မိဘမဲ့ ကလေးသူငယ်တို့၏ *ဥစ္စာပစ္စည်း၏အပါးသို့ပင်၊* [၁] ၎င်းတို့ လူလားမြောက်၊ အရွယ်ရောက်သည်အထိ မချဉ်းကပ်ရ၊ ထိုမှတပါး အသင်တို့သည် တောင်း၊ တင်းနှင့် အလေးများကို တရားမျှတစွာဖြင့် အပြည့်ချိန်တွယ်၍ ပေးကြရမည်။ ငါ အရှင်မြတ်သည် မည်သူတဦးတယောက်ကိုမျှ ထိုသူတတ်စွမ်းနိုင်သည်ထက် ပို၍ ဝန်တင်တော်မူသည်မဟုတ်။

ထိုနည်းတူ အသင်တို့သည် (တစုံတရာကို သက်သေခံရာ၌ဖြစ်စေ၊ စီရင်ဆုံးဖြတ်ရာ၌ဖြစ်စေ) စကားပြောဆိုသောအခါ(အပြောခံရသောသူသည် မိမိ) ဆွေရင်းသားရင်း ဖြစ်သည့်တိုင်အောင် တရားမျှတစွာ ပြောဆိုကြရမည်။ ထို့အတူ အသင်တို့သည် အလ္လာဟ် အရှင်မြတ်နှင့် ထားရှိသော ကတိသစ္စာကိုလည်း တည်ကြရမည် (ဖြစ်ပေသည်။) ထိုအရှင်မြတ်သည် အသင်တို့ မှတ်သားနိုင်ခြင်းငှာ ဤသည့် (အချက်)တို့ နှင့်စပ်လျဉ်း၍ အမိန့်ချမှတ်တော်မူလေသတည်း။

(၁) မိဘမဲ့ကလေးများ၏ ဥစ္စာပစ္စည်း၏ အနီးသို့ပင် ထိုကလေးများ အရွယ်ရောက် လူလားမြောက်ကြသည်အထိ မကပ်ကြရ။ သို့ရာတွင် ရှရီအတ်တရားဥပဒေနှင့်အညီ ကောင်းမွန်သောနည်းဖြင့် စွက်ဖက်နိုင်ခွင့်ရှိသည်။ ဥပမာ– မိဘမဲ့တို့၏ဥစ္စာပစ္စည်းများကို ၎င်းတို့၏အလုပ်တွင် အသုံးချခြင်း။ ၎င်းတို့၏ဥစ္စာပစ္စည်းများ ထိန်းသိမ်းစောင့်ရှောက်ထားခြင်း။ အချို့(ဝလီ)အုပ်ထိန်းသူ၊ (ဝဆီ) "ဝဆီယတ်" မှာကြားခြင်းခံရသူများ အဖို့မှာကား မိဘမဲ့တို့၏ဥစ္စာပစ္စည်းကို ထိုမိဘမဲ့အကျိုးငှာ ကူးသန်းရောင်းဝယ်ပိုင်ခွင့်ပင်ရှိပေသည်။ အချို့ဝလီများ၊ ဝဆီများဟူသည် (၁)ကာသီ။ (၂)ဘမဲ့ကလေး၏အဘိုး။ (၃)ဘမဲ့ကလေး၏အဘ၏ မှာကြားခြင်းခံရသော ဝဆီ။ (၄)ဘမဲ့ကလေး၏အဘိုး၏ မှာကြားခြင်းခံရသော ဝဆီ။ ထိုပုဂ္ဂိုလ်များအပြင် မည်သူတဦးတယောက်အဖို့မျှ ဘမဲ့ကလေးများ၏ ဥစ္စာပစ္စည်းဖြင့် ကူးသန်းရောင်းဝယ်ပိုင်ခွင့်မရှိပေ။ ကြည့်–ထာနဝီ။ အ–၃၊ စ–၁၃၉။

ဤအခွင့်အလမ်းများသည် မိဘမဲ့ကလေးများ အရွယ်မရောက် လူလားမမြောက်မီအတွင်းသာ ဖြစ်ပေသည်။ အရွယ်ရောက် လူလားမြောက်၍ အသိအလိမ္မာနှင့် ပြည့်စုံကြသည့်အခါ ၎င်းတို့၏ ပစ္စည်းများကို ၎င်းတို့အား ပြန်လည်ပေးအပ်ကြရမည်။ ➤➤

وَأَنَّ هَٰذَا صِرَاطِي مُسْتَقِيمًا فَاتَّبِعُوهُ ۖ وَلَا تَتَّبِعُوا السُّبُلَ فَتَفَرَّقَ بِكُمْ عَن سَبِيلِهِ ۚ ذَٰلِكُمْ وَصَّاكُم بِهِ لَعَلَّكُمْ تَتَّقُونَ ١٥٣

၁၅၃။ ထိုမှတပါး (အသင် ပြောကြားပါလေ။) ဤသည် ငါ၏ ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်ပေတည်း။ သို့ဖြစ်ပေရာ အသင်တို့သည် ထိုလမ်းစဉ်ကိုသာ လိုက်ကြလေကုန်။ ထို့ပြင် အခြားအခြားသော လမ်းစဉ်များကို မလိုက်ကြကုန်လင့်။ အဘယ့်ကြောင့် ဆိုသော် ယင်းလမ်းစဉ်များသည် အသင်တို့အား ထိုအရှင်မြတ်၏ လမ်းတော်မှ ကွဲကွာစေမည် ဖြစ်သောကြောင့်ပင်။

ထိုအရှင်မြတ်သည် အသင်တို့ (ပြစ်မှုဒုစရိုက်တို့မှ) ကြဉ်ရှောင်နိုင်ကြရန်အလို့ငှာ ဤသည့်(အချက်)တို့နှင့် စပ်လျဉ်း၍ *အသင့်တို့အား အမိန့်ချမှတ်တော်မူခဲ့လေသည်။* [1]

ثُمَّ آتَيْنَا مُوسَى الْكِتَابَ تَمَامًا عَلَى الَّذِي أَحْسَنَ وَتَفْصِيلًا لِّكُلِّ شَيْءٍ وَهُدًى وَرَحْمَةً لَّعَلَّهُم بِلِقَاءِ رَبِّهِمْ يُؤْمِنُونَ ١٥٤

၁၅၄။ တဖန် ငါအရှင်မြတ်သည် (နဗီတမန်တော်) မူစာအား ယင်း(မူစာ၏အမျိုးသား)တို့သည် မိမိတို့အား မွေးမြူတော်မူသောအရှင်နှင့် တွေ့ဆုံကြရမည်ကို ယုံကြည်နိုင်ကြရန် ကောင်းစွာကျင့်မူသော သူတို့အဖို့ (တောင်ရာတ်)*ကျမ်းမြတ်ကို* [2] ပြည့်စုံသော ကျေးဇူးတော်အဖြစ်ငှင်း၊ အလုံးစုံသော အရာများကို *လင်းပြသော(ကျမ်းဂန်)အဖြစ်ငှင်း၊* [3] တရားမမှု ညွှန်ပြသော(ဒေသနာတော်) အဖြစ်ငှင်း၊ ကရုဏာတော်အဖြစ်ငှင်း၊ ချီးမြှင့်ပေးသနားတော်မူခဲ့လေသတည်း။

---

➢➢ အကယ်၍ ထိုမိဘမဲ့ကလေးများသည် အရွယ်ရောက်ပြီးသော်လည်း အသိအလိမ္မာကင်းမဲ့သူများဖြစ်ကြပါသော် ၎င်းတို့၏ပစ္စည်းများကို သက်ဆိုင်ရာ အုပ်ထိန်းသူများသည် ဆက်လက်၍ပင် ထိန်းသိမ်းထားကြရပေမည်။ သို့ဖြစ်ရာ မိဘမဲ့ကလေးများ၏ ဥစ္စာပစ္စည်းများကို ရှရီအတ်တရား ဥပဒေနှင့်အညီ ဆန့်ကျင်၍ အသုံးပြုခြင်းသည်၊ ဟရာမ်ဖြစ်ပေသည်။

ကြည့်-(ထာနဝီ၊ အ - ၃၊ စ - ၁၃၉။ ဤအကြောင်းနှင့်ဆက်စပ်၍ ကုရ်အာန်(၄း၆)ကို ရှုပါကုန်။)

(၁) သာဝကကြီး အဗ်ဒုလ္လာဟ်(ရသွိယလ္လာဟုအန်ဟု)သည် သာဝကကြီး အီဗ်နုမတ်စ်အူဒ်ပင် ဖြစ်သည်။ ထိုသာဝကကြီးထံမှ ကြားသိရသည်မှာ- သာဝကကြီးက ဤသို့ပြောကြားခဲ့၏။ တမန်တော်မြတ်သည် ➢➢

وَهَٰذَا كِتَٰبٌ أَنزَلْنَٰهُ مُبَارَكٌ فَٱتَّبِعُوهُ وَٱتَّقُوا۟ لَعَلَّكُمْ تُرْحَمُونَ ﴿١٥٥﴾

၁၅၅။ စင်စစ်တမူကား ဤသည် ငါအရှင်မြတ် ထုတ်ပြန်တော်မူသော (ကုရ်အာန်) ကျမ်းတော်မြတ် ပင်တည်း။ (ထိုကျမ်းတော်မြတ်သည်) ကောင်းချီး မင်္ဂလာ *(အဖြာဖြာ)* [၁] နှင့် ပြည့်စုံသော ကျမ်းမြတ် ပင်ဖြစ်ပေရာ၊ အသင်တို့သည် ထိုကျမ်းမြတ်(၏ ညွှန်ကြားချက်တို့) ကို *လိုက်နာကြလေကုန်။* [၂] ထိုနည်းတူစွာ အသင်တို့သည် (ထိုကျမ်းတော်မြတ် ကမြစ်တားသော အမှုကိစ္စတို့မှလည်း) ကြဉ်ရှောင် ကြလေကုန်။ သို့မှသာလျှင် အသင်တို့သည် (အလ္လာဟ်အရှင်မြတ်၏) ကရုဏာတော်ကို ခံစား နိုင်ကြမည်။

---

➤➤ မိမိ၏ လက်ဖြင့် မျဉ်းတကြောင်းသားတော်မူ၏။ ထို့နောက် တမန်တော်မြတ်က ဤသည် အလ္လာဟ်အရှင်မြတ်၏ ဖြောင့်မတ်သော တရားလမ်းတော်ဖြစ်သည်ဟု မိန့်ဆို၏။ ၎င်းနောက် တမန်တော်မြတ်သည် အဆိုပါမျဉ်း၏ ညာဘက်တွင်၎င်း၊ ဘယ်ဘက်တွင်၎င်း၊ (တိမ်းစောင်းသော မျဉ်းကြောင်းများသားတော်မူ၏။ ထို့နောက် တမန်တော်မြတ်က ဤလမ်းများအနက် လမ်းတိုင်းလမ်းတိုင်း အပေါ်တွင် ရှိုင်တွာန်များတယောက်စီ ရှိသည်။ ထိုရှိုင်တွာန်သည် မိမိဘက်သို့ ဖိတ်ခေါ်လျက် ရှိသည်။

ထိုနောက်တမန်တော်မြတ်သည် ကုရ်အာန်ကျမ်းမြတ် (၆း၁၅၃)တွင် ပါရှိသော မုဗာရက်ကော်ကို ရွတ်ဖတ်တော်မူ၏။ အီဗ်နုကဆီရ်၊ အ-၂၊ စ-၁၉၀။

၂ ဤမုဗာရက်ကော်တွင် တမန်တော်မူစာ (အလိုင်ဟစ္စလာမ်)နှင့် ထိုတမန်တော်၏ ကျမ်းဂန်ကို အထူးတလည် ထုတ်ဖော် မိန့်ဆိုထားတော်မူခြင်းမှာ အရဗ်မုရှ်ရစ်ကတ်တို့သည် ယဟူဒီများနှင့် ရောနှောနေထိုင်ကြသည့်အတွက် တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)အား ကောင်းစွာ သိရှိကြခြင်းကြောင့် ဖြစ်ရာသည်။ ၎င်းပြင် အစ္စမာအီလီ မျိုးနွယ်များသည် အစ္စရာအီလီမျိုးနွယ်များ၏ ဘကြီး၏သားမြေးများ ညီအစ်ကို တဝမ်းကွဲများလည်း ဖြစ်ကြသည်။ ၃ (တောင်ရာတ်ကျမ်းဂန်သည်) ၎င်းတို့၏သာသနာရေးတွင် ၎င်းတို့လိုအပ်သော အရာအားလုံးကို ရှင်းလင်းပြသော ကျမ်းဂန်ဖြစ်ပေသည် ဟူ၏။ (မဒါရစ်ကဲ)

၁ "မုဗာရတ်ကဲ" ဟူသည် လောကီရေး၊ လောကုတ္တရာရေးအားဖြင့် ကောင်းချီးအဖြာဖြာနှင့်ပြည့်စုံသော အရာကို ဆိုသည်။

၂ "အသင်တို့သည် ထိုကျမ်းကို လိုက်နာကြကုန်" ဟူသည် ထိုကျမ်းဂန်လာ ဖရည်၊ နဖ်လ်၊ မုဗာဟ်နှင့် "အကီဒတ်" ယုံကြည်ချက် အားလုံးတို့ကို ထိုကျမ်း၏အလိုသဘောအရ လိုက်နာရန် (အာဏာတ္တိနယ) မလွှဲမရှောင်သာနိုင်သော အမိန့်တော်ဖြစ်သည်။

တနည်း။

ငှင်းပြင် ဤ(ကုရ်အာန်)သည် ကျမ်းဂန် တစောင်ဖြစ်သည်၊ ထိုကျမ်းဂန်ကို ငါအရှင်မြတ်ပင် (အသင်မုဟမ္မဒ်)ထံ ထုတ်ပြန်ချမှတ်တော်မူသည်။ ကောင်းချီးမင်္ဂလာ အဖြာဖြာနှင့် ပြည့်စုံသည်။ သို့ဖြစ်ပေရာ(ယခု) အသင်တို့သည် ထို(ကျမ်းဂန်လာ ဒေသနာတော်များ)ကို လိုက်နာကြကုန်။ ငှင်းပြင် အသင်တို့သည် ထို(ကျမ်းဂန်လာ ဒေသနာတော်များ ကို ဆန့်ကျင်ရာတွင် အလ္လာဟ်အရှင်မြတ်အား) ကြောက်ရွံ့ကြကုန်၊ သို့ဖြစ်လျှင် အသင်တို့သည် (အလ္လာဟ်အရှင်မြတ်၏) ကရုဏာတော်ကို ခံစား နိုင်ကြပေမည်။

أَنْ تَقُولُوا إِنَّمَا أُنْزِلَ الْكِتَابُ عَلَىٰ طَائِفَتَيْنِ مِنْ قَبْلِنَا وَإِنْ كُنَّا عَنْ دِرَاسَتِهِمْ لَغَافِلِينَ ﴿١٥٦﴾

၁၅၆။ အသင်တို့က (ကိယာမတ်၊ ရှင်ပြန်ထမြောက်မည့်နေ့ တွင်) "ကျွန်တော်မျိုးတို့အလျင်ရှိခဲ့သော(ယဟူဒီနှင့် ခရစ်ယာန်) *အုပ်စုနှစ်စုအပေါ်၌သာလျှင် ကျမ်းဂန်များ* [၁] ကျရောက်လာလေသည်။ ကျွန်တော်မျိုးတို့ မူကား ငှင်းတို့ ဖတ်ကြားလေ့လာသည် (များ)ကို (လည်း)မသိနားမလည်ခဲ့ကြချေ"ဟု မပြောနိုင်ကြရန် (ငါအရှင်မြတ်သည် ဤ ကျမ်းတော်မြတ်ကို ချပေး သနားတော်မူခဲ့လေသတည်း။)

أَوْ تَقُولُوا لَوْ أَنَّا أُنْزِلَ عَلَيْنَا الْكِتَابُ لَكُنَّا أَهْدَىٰ مِنْهُمْ

၁၅၇။ သို့တည်းမဟုတ် (ဤလောကတွင်လည်း) အသင်တို့က"အကယ်၍သာကျမ်းဂန်သည် ကျွန်တော် မျိုးတို့ထံ ကျရောက်ခဲ့ပါမူ မုချဧကန် ကျွန်တော်မျိုး

---

(၁) ဤမုက္ခပါဌ်တော်ကို ထောက်ရှုခြင်းအားဖြင့် "အဟ်လုလ်ကိတာဗ်" ကျမ်းရသူများဟူသည် ယဟူဒီနှင့် နဆွ်ရာနီများကိုသာ ဆိုကြောင်း ကောင်းစွာ သိရှိရပေသည်၊ "မဂျူစီ"များသည် အဟ်လုလ်ကိတာဗ်" ကျမ်းရသူများ မဟုတ်ကြပေ။ အဘယ့်ကြောင့်ဆိုသော် ယင်း"မဂျူစီ"များသည် ကျမ်းရသူများ ဖြစ်ကြပါသော်၊ ကျမ်းရသူများမှာ အုပ်စု(၃)ခု၊ ဖြစ်ရှိသွားကြပေမည်။ ဂျဆ်ဆွာဆ်။

فَقَدْ جَآءَكُم بَيِّنَةٌ مِّن
رَّبِّكُمْ وَهُدًى وَرَحْمَةٌ ۚ
فَمَنْ أَظْلَمُ مِمَّن كَذَّبَ
بِـَٔايَٰتِ ٱللَّهِ وَصَدَفَ عَنْهَا ۗ
سَنَجْزِى ٱلَّذِينَ يَصْدِفُونَ
عَنْ ءَايَٰتِنَا سُوٓءَ ٱلْعَذَابِ بِمَا
كَانُوا۟ يَصْدِفُونَ ﴿١٥٧﴾

တို့သည် ၎င်း(မှအ်မင်န်)တို့ထက် ပိုမို၍ လမ်းမှန်ကို ရရှိသူများပင် ဖြစ်ကြပါမည်ဟု မပြောနိုင်ကြရန် (ဤကျမ်းတော်မြတ်ကို ငါအရှင်မြတ်သည် ချပေးတော်မူခဲ့၏။) သို့ဖြစ်ပေရာ၊ ယခုမူကား အသင်တို့ထံ အသင်တို့၏ အရှင်မြတ် အထံတော်မှ ထင်ရှားစွာသော သက်သေလက္ခဏာသည်၎င်း၊ တရားဓမ္မ ညွှန်ကြားချက်သည်၎င်း၊ ကရုဏာတော်သည်၎င်း၊ ရောက်ရှိလာခဲ့လေပြီ။

သို့ပါ၍ အကြင်သူထက်ပိုမို၍ မတရားသောသူသည် မည်သူရှိပါသနည်း။ ထိုသူသည် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာများကို (မိမိကိုယ်တိုင်) မဟုတ်မမှန်ဟု ငြင်းပယ်ရုံသာမက အခြားသူတို့အားလည်း) ထိုသက်သေလက္ခဏာများ (ကို ယုံကြည်ခြင်းမှ) တားမြစ်လေသည်။

မကြာမြင့်မီ ငါအရှင်မြတ်သည် မိမိ သက်သေလက္ခဏာများ(ကို ယုံကြည်ခြင်း)မှ တားမြစ်သောသူတို့အား၊ ၎င်းတို့၏တားမြစ်မှုကြောင့် အလွန်ဆိုးဝါးသော ပြစ်ဒဏ်ကို အစားပေးတော်မူမည်။

هَلْ يَنظُرُونَ إِلَّآ أَن تَأْتِيَهُمُ
ٱلْمَلَٰٓئِكَةُ أَوْ يَأْتِىَ رَبُّكَ أَوْ يَأْتِىَ
بَعْضُ ءَايَٰتِ رَبِّكَ ۗ يَوْمَ يَأْتِى
بَعْضُ ءَايَٰتِ رَبِّكَ لَا يَنفَعُ نَفْسًا
إِيمَٰنُهَا لَمْ تَكُنْ ءَامَنَتْ مِن قَبْلُ

**၁၅၈။** ယင်းသူတို့သည် မိမိတို့ထံ "မလာအိကဟ်" ကောင်းကင်စေတမန်များ ရောက်ရှိလာသည်ကို သော်၎င်း၊ အသင့်အား မွေးမြူတော်မူသော(အလ္လာဟ်) အရှင်မြတ် ကိုယ်တိုင် ကြွရောက်လာတော် မူသည်ကိုသော်၎င်း၊ အသင့်အား မွေးမြူတော်မူသော (အလ္လာဟ်) အရှင်မြတ်၏ အကြီးအကျယ် လက္ခဏာ တစုံတရာ ရောက်ရှိလာသည်ကိုသော်၎င်း၊ စောင့်ဆိုင်း၍ နေကြသလော။

أَوْ كَسَبَتْ فِىٓ إِيمَٰنِهَا خَيْرًا ۗ قُلِ ٱنتَظِرُوٓا۟ إِنَّا مُنتَظِرُونَ ﴿١٥٨﴾

(အမှန်စင်စစ်သော်ကား) အသင့်အား မွေးမြူတော်မူသော အရှင်မြတ်၏ (ကြီးကျယ်သော) အချို့လက္ခဏာတော် ရောက်ရှိလာသောနေ့တွင်၊ ရှေးဦးမဆွက "အီမာန်" ယုံကြည်မှု မရှိခဲ့သောသူကိုသော်ငင်း၊ မိမိယုံကြည်မှုနှင့် စပ်လျဉ်း၍ တစုံတရာ ကောင်းမှုပြုခဲ့ခြင်း မရှိသောသူကိုသော်ငင်း၊ ထိုသူ၏ ယုံကြည်မှုသည် အကျိုးကျေးဇူး ဖြစ်ထွန်းစေမည် မဟုတ်ပေ။ ၁

(အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား) "အသင်တို့သည် စောင့်ဆိုင်း၍ နေကြလေကုန်။ ငါတို့သည်(လည်း အသင်တို့နှင့်အတူ) စောင့်ဆိုင်းလျက်ပင် ရှိပါသည်" ဟု ပြောကြားပါလေ။

---

(၁) အလ္လာဟ်အရှင်မြတ်၏ဘက်တော်မှ တရားဓမ္မဟောကြားတော်မူခြင်းနှင့် စပ်လျဉ်းသည့် တာဝန်အရပ်ရပ်သည် ပြည့်ဝစုံလင်ချေပြီ။ နဗီတမန်တော်များလည်း ကြွရောက်လာခဲ့ကြချေပြီ။ ရှရီအတ်တရားဥပဒေများ၊ ကျမ်းဂန်များလည်း ကျရောက်ခဲ့ချေပြီ။ အလ္လာဟ်အရှင်မြတ်၏ နောက်ဆုံးကျမ်းဂန်ဖြစ်သော ကုရ်အာန်ကျမ်းမြတ်သည်လည်း ရောက်ရှိ၍လာခဲ့ချေပြီ။ နဗီတမန်တော် အပေါင်းတို့၏ အချုပ်ဖြစ်သော တမန်တော် မုဟမ္မဒ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)သည်လည်း ပွင့်တော်မူချေပြီ။ ယင်းသို့ဖြစ်ပါလျက် အရဗ် ကာဖိရ် မုရှ်ရစ်က်များသည် မနာခံကြပါလျှင် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင် ကြွရောက်လာတော် မူသည်ကိုသော်ငင်း၊ ကောင်းကင်တမန်တော်များ ဆင်းသက်လာကြသည်ကိုသော်ငင်း၊ သို့တည်းမဟုတ် အလ္လာဟ် အရှင်မြတ်၏ ကြီးကျယ်လှသော သက်သေလက္ခဏာတော် (ဥပမာ-ကိယာမတ်နှင့် စပ်လျဉ်းသည့် ကြီးကျယ် သောသက်သေလက္ခဏာ) တစုံတရာ ရောက်ရှိလာသည်ကိုသော်ငင်း၊ စောင့်မျှော်နေကြဟန် တူပေသည်။ သို့ဖြစ်လျှင် သိထားအပ်သည်မှာ ကိယာမတ်၏ သက်သေလက္ခဏာများအနက် အနောက်မှ နေထွက်ခြင်းသည် လည်း သက်သေလက္ခဏာတရပ် ဖြစ်သည်။ ဤသက်သေလက္ခဏာများ ပေါ်ပေါက်လာပြီးသည့် နောက်ပိုင်းတွင်မူ ကာဖိရ်တဦးတယောက်၏ အီမာန်ကို ယုံကြည်ခြင်းသည် တရားဝင်မဟုတ်တော့ပေ။ အပြစ်ရှိသူတဦး၏ ဝန်ချတောင်းပန်ခြင်းသည်လည်း လက်ခံစဉ်းစားဖွယ်ရာ ဖြစ်တော့မည် မဟုတ်ပေ။ ကြည့်-ကုရ်အာန် (၄၇:၄၈-၄၅။ ၄၇:၁၈) ဤအကြောင်း ဗုခါရီနှင့် မွတ်စ်လင်မ် ကျမ်းကြီးများတွင် အတည့်အလင်းပါရှိပေသည်။

ယင်းကဲ့သို့ အနောက်မှ နေ ပြောင်းပြန်ထွက်ခြင်း၊ နောက်ဆုတ်ခြင်းမှာ စကြာဝဠာကမ္ဘာကြီးတွင် ပေါ်ပေါက်သွားလာ ဖြစ်ပျက်လျက်ရှိသော အစီအစဉ်များ၊ သဘာဝဓမ္မ သဘောတရားများ၏ အချိန်ကာလသည် ကုန်ဆုံးတော့မည် ဖြစ်ကြောင်း၊ နေ၏ထွက်ဝင်သွား၊ လာလျက်ရှိသော အစီအစဉ်သည်လည်း ကပြောင်းကပြန် ဖြစ်ရန် အချိန်ကျရောက်ပြီ ဖြစ်ကြောင်းကို ညွှန်ပြခြင်းပင်ဖြစ်သည်။ ➤➤

إِنَّ الَّذِينَ فَرَّقُوا دِينَهُمْ وَكَانُوا شِيَعًا لَّسْتَ مِنْهُمْ فِي شَيْءٍ ۚ إِنَّمَا أَمْرُهُمْ إِلَى اللَّهِ ثُمَّ يُنَبِّئُهُم بِمَا كَانُوا يَفْعَلُونَ ﴿١٥٩﴾

၁၅၉။ စင်စစ်ဧကန် အကြင်သူတို့သည် မိမိတို့၏ သာသနာကို *အစိတ်စိတ်ခွဲပစ်ခဲ့ကြ၏။* [၁] ၎င်းနောက် ထိုသူများသည် ဂိုဏ်းဂဏ အသီးသီးကွဲခဲ့ကြ၏။ အသင်သည် ထိုသူတို့နှင့် မည်သို့မျှ မပတ်သက်ပါ။

မုချဧကန် ၎င်းတို့၏ကိစ္စသည် အလ္လာဟ် အရှင်မြတ်အထံတော်သို့ လွှဲအပ်ပြီးဖြစ်ချေသည်။ ထိုနောက် ထိုအရှင်မြတ်သည်ပင်လျှင်၊ ၎င်းတို့အား၊ ၎င်းတို့ ပြုမူခဲ့သည်တို့ကို သိစေတော်မူမည်။

مَن جَاءَ بِالْحَسَنَةِ فَلَهُ عَشْرُ أَمْثَالِهَا ۖ وَمَن جَاءَ بِالسَّيِّئَةِ فَلَا يُجْزَىٰ إِلَّا مِثْلَهَا وَهُمْ لَا يُظْلَمُونَ ﴿١٦٠﴾

၁၆၀။ မည်သူမဆို ကောင်းမှုကို ယူဆောင်ခဲ့အံ့။ ထိုသူသည် (အနည်းဆုံး) ယင်းကောင်းမှု၏ ဆယ်ဆကို ရရှိပေအံ့။ ၎င်းပြင် မည်သူမဆို မကောင်းမှု ဒုစရိုက်ကို ယူဆောင်ခဲ့အံ့။ ထိုသူသည် ယင်းမကောင်းမှုနှင့် *ထပ်တူထပ်မျှသာ အစားပေးခြင်း ခံရလတ္တံ့။* [၂] (အပြစ်ရှိသည်ထက် ပို၍ ခံရမည်မဟုတ်)။ ၎င်းပြင်ထိုသူတို့သည် မတရားနှိပ်စက်ခြင်းကို ခံကြရမည်မဟုတ်ပေ။

---

➤➤ တနည်းအားဖြင့်ဆိုသော် ထိုအချိန်မှစ၍ စကြာဝဠာကမ္ဘာကြီး၏ ပျက်ပြုန်းဆိတ်သုဉ်းရန် အချိန်သည် စတင်ချေပြီ။ ကမ္ဘာငယ်ဖြစ်သော လူသားသည် သေခါနီးဆဲဆဲ အချိန်တွင် အီမာန်ယုံကြည်ခဲ့သော် ဝန်ချတောင်းပန်ခဲ့သည်ရှိသော် ၎င်း၏ အီမာန်နှင့် ဝန်ချတောင်းပန်မှုများသည် လက်ခံဘွယ်ရာ မဟုတ်ချေ။ အဘယ်ကြောင့်ဆိုသော် သေခါနီးဆဲဆဲတွင် အီမာန်ယုံကြည်ခြင်း ဝန်ချတောင်းပန်ခြင်းများသည် မိမိ အလိုဆန္ဒအလျောက် လွတ်လပ်စွာပြုခြင်း၊ မဟုတ်ခြင်းကြောင့်ပင် ဖြစ်ပေသည်။ ထို့အတူပင် အနောက်မှ နေထွက်ပြီးသည့်နောက်တွင်လည်း ကမ္ဘာ့အဝှန်းတွင် အီမာန်ယုံကြည်ခြင်း၊ ဝန်ချ တောင်းပန်ခြင်းများသည် မည်သူတဦးတယောက်အဖို့မှ လက်ခံဖွယ်ရာ ဖြစ်မည်မဟုတ်ပေ။

ယခုခေတ်တွင်အချို့ "မွလ်ဟစ်ဒ်" များသည် သာမန်မဟုတ်သော ကိစ္စများကို ပုံဆောင်ချက်ဟု ဆိုလေ့ရှိကြသကဲ့သို့ အနောက်မှ နေထွက်မည့် ကိစ္စကိုလည်း ပုံဆောင်ချက်ဟုပင်ဆိုရန် တွေးဆလျက်ပင် ရှိကြပေသည်။ ယင်းသူတို့သည် ကိယာမတ်ကိုလည်းပုံဆောင်ချက်ဟုပင် ဆိုကြပေလိမ့်မည်။ ဤကား - "ဣလ်ဟာဒ်" မိစ္ဆာအယူတည်း)။

(၁) မုချဧကန် အကြင်သူများသည် ၎င်းတို့၏သာသနာကို (၎င်းတို့၌ ထိုသာသနာကိုလိုက်နာ ကျင့်သုံးရန် တာဝန်ရှိ၏) အစိတ်စိတ် ခွဲပစ်ခဲ့ကြ၏။ (ဆိုလိုသည်ကား - ထိုသူများသည် ၎င်းတို့၏သာသနာ၏ ➤➤

قُلْ إِنَّنِي هَدَانِي رَبِّي إِلَىٰ صِرَاطٍ مُّسْتَقِيمٍ دِينًا قِيَمًا مِّلَّةَ إِبْرَاهِيمَ حَنِيفًا ۚ وَمَا كَانَ مِنَ الْمُشْرِكِينَ ﴿١٦١﴾

၁၆၁။ (အိုး-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့) ပြောကြားပါလေ။ (အချင်းတို့) ငါ၏အရှင်မြတ်သည် ငါ့အား ဖြောင့်မတ်မှန်ကန်သော တရားလမ်းသို့ ပို့ဆောင်တော်မူခဲ့လေပြီ။

(ထိုတရားလမ်းမှာ)အလွန် တည်တံ့၊ ခိုင်ခံ့သောသာသနာပင် ဖြစ်ပေသည်။ တည်ကြည်ဖြောင့်မတ်သော နဗီတမန်တော် အီဗ်ရာဟီမ်၏ လမ်းစဉ်ပင်ဖြစ်ပေသည်။ ၎င်းပြင် ထို(နဗီတမန်တော်) *အီဗ်ရာဟီမ်သည် တစ်ပါးကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ် ကိုးကွယ်သောသူများတွင် ပါဝင်ခဲ့သည် မဟုတ်။* [၁]

---

>> အမိန့်ပညတ် အားလုံးကိုသော်၎င်း အချို့ကိုသော်၎င်း စွန့်ပစ်ခဲ့ကြ၏။ ၎င်းနောက် ရှရစ်က်၊ ဗစ်ဒ်အတ်၏ လမ်းစဉ်များကို လိုက်နာ ကျင့်သုံးခဲ့ကြ၏)။ ၎င်းနောက် ထိုသူများသည် (အမျိုးမျိုး) ဂိုဏ်းဂဏများ ကွဲသွားခဲ့ကြ၏။ (အို-နဗီ) အသင်သည် ထိုသို့သော သူများနှင့် မည်သို့မျှ မပတ်သက်ပါ။ (ဝါ) အသင်သည် ထိုသူများနှင့် လုံးဝ ကင်းရှင်းသူ ဖြစ်ပါသည်။

"ဖရ်ရကူ" ဟူသောပုဒ်တွင် အားလုံးလမ်းမှားသော ဂိုဏ်းဂဏများ အကျုံးဝင်လျက်ရှိပေရာ မမှုခြွင်းချန်ယူခြင်းသည် ပို၍သင့်မြတ်ပေသည်။ သို့ရာတွင် အပြစ်ဒဏ်၏ အဆင့်အတန်းများသည် အမျိုးမျိုးအစားစား ရှိပေမည်။ (ဝါ) ကာဖိရ်များသည် အမြဲတစေ အပြစ်ဒဏ်ခံကြရမည်။ ဗစ်ဒ်အတီများမှာမူကား အီမာန် ယုံကြည်မှုရှိသည့်အတွက် မှားယွင်းသော အယူအဆများ၏ ပြစ်ဒဏ်ကိုခံကြရပြီးနောက် လွတ်ငြိမ်းချမ်းသာခွင့် ရရှိကြရပေမည်။ ထာနဝီ။

(၂) ကောင်းမှုတခုတိုင်းအတွက် ကုသိုလ်အကျိုးကို အနည်းဆုံး ဆယ်ဆ ရရှိမည်ဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် အချို့ကောင်းမှုများ၏ အကျိုးမှာ ဆယ်ဆမက ဆပေါင်းများစွာ ကုသိုလ်အကျိုးရရှိမည့်အကြောင်း "ရိဝါယတ်" ကျမ်းချက်များတွင် အတည့်အလင်းလာရှိပေသည်။ ဤကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်တည်း။

မကောင်းမှုတခုအတွက် ထိုမကောင်းမှုနှင့် ထိုက်တန်လျော်ညီသော အပြစ်ကိုသာလျှင် ခံရမည်ဖြစ်သည်။ အပြစ်ရှိသည်ထက် စိုးစဉ်းမျှ ပိုမို၍ခံရမည်မဟုတ်ပေ။ ဤကား အလ္လာဟ်အရှင်မြတ်၏ တရားမျှတမှုတည်း။ မာဂျိဒီ။

(၁) အလ္လာဟ်အရှင်မြတ်က ဤမုကဒ္ဒပါဠ်တော်တွင် တမန်တော်မြတ်အား ကမ္ဘာ့အဝှန်းသို့ ဤသို့ ကြေငြာစေတော်မူသည်။ ယင်းကြေငြာချက်၏ အလိုသဘောမှာ အသင်တို့သည် သာသနာရေးတွင် မိမိတို့၏ စိတ်ဆန္ဒအလျောက် လမ်းစဉ်အမျိုးမျိုး ဂိုဏ်းဂဏအဖုံဖုံ တည်ထွင်ပြုလုပ်နိုင်ကြသည်။ အလိုရှိသမျှ ကိုးကွယ်ရာအရှင်များကိုလည်း သတ်မှတ် ကိုးကွယ်နိုင်ကြသည်။ အသင်တို့သည် စိတ်၏အလိုလိုက်၍ လုပ်လိုကလုပ်ကြကုန်။ >>

قُلْ إِنَّ صَلَاتِي وَنُسُكِي وَمَحْيَايَ وَمَمَاتِي لِلَّهِ رَبِّ الْعَالَمِينَ ﴿١٦٢﴾

၁၆၂။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား တဖန် ဤသို့)ပြောကြားပါဦးလေ။ (အချင်းတို့) ငါ၏ "ဆွလာတ်" ဝတ်ပြုမှုသည်၎င်း၊ ငါ၏ (အခြားအခြားသော) ခဝပ်ကိုးကွယ်မှု (အပေါင်း)တို့သည်၎င်း၊ ငါ၏ အသက်ရှင်ခြင်းသည်၎င်း၊ ငါ၏ အသက်သေခြင်းသည်၎င်း၊ စကြဝဠာခပ်သိမ်းကို ဖန်ဆင်းမွေးမြူတော်မူသော *အရှင်မြတ် နှစ်သက်တော်မူရန် သာလျှင် ဖြစ်သည်။* [၁]

لَا شَرِيكَ لَهُ وَبِذَٰلِكَ أُمِرْتُ وَأَنَا أَوَّلُ الْمُسْلِمِينَ ﴿١٦٣﴾

၁၆၃။ ထိုအရှင်မြတ်၌ တွဲဖက်ဟူ၍ အလျင်းမရှိချေ။ ငါသည် ဤသည်နှင့်စပ်လျဉ်း၍ပင် အမိန့်တော်ကို ရရှိခဲ့၏။ ၎င်းပြင် ငါသည် *အမိန့်တော်ကိုလိုက်နာသူတို့တွင် ပထမဦးဆုံးပင် ဖြစ်ချေသတည်း။* [၂]

---

➤➤ သို့ရာတွင် ကျွန်ုပ်အား ကျွန်ုပ်၏ အရှင်သခင်ကမူ ဖြောင့်မတ်မှန်ကန်၍ တည်တံ့ခိုင်မြဲသော လမ်းစဉ်ကို ပြထားတော်မူပြီး ဖြစ်သည်။ ထိုလမ်းစဉ်ကား တဆူတည်းသော အလ္လာဟ်အရှင်မြတ်အား စိတ်စေတနာဖြူစင်စွာဖြင့် ယုံကြည်ကိုးကွယ်ခြင်း၏ လမ်းစဉ်၊ ထိုအရှင်မြတ်အား လုံး၀ ဥဿုံအပ်နှင်းခြင်း၏ လမ်းစဉ်၊ ထိုအရှင်မြတ်အား မှီခိုအားထားခြင်း၏လမ်းစဉ်ပင် ဖြစ်သည်။ ထို လမ်းစဉ်ကိုပင်လျှင် နဗီ တမန်တော်များ၏ ဖခင်၊ အလ္လာဟ် အရှင်မြတ်၏ အချစ်တော်၊ တမန်တော်အီဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)သည် ဖွဲ့သတ္တိရှိရှိ၊ ဦးလည်မသုန်၊ စွမ်းစွမ်းတမံ လိုက်နာကျင့်သုံးတော် မူခဲ့လေသည်။ ထို တမန်တော်မြတ်ကြီးအား အရဗ်လူမျိုးများနှင့်တကွ ကောင်းကင်ကျ သာသနာများ၏ သာသနာဝင်အပေါင်းတို့သည် အထူးတလည် ကြည်ညိုလေးစားလျက် ရှိကြပေသည်။

① မုရှ်ရစ်က်များသည် အလ္လာဟ်အရှင်မြတ်အပြင် အခြားအရာများကိုလည်း ကိုးကွယ်လျက်ရှိခဲ့ကြ၏။ တိရစ္ဆာန်များကို လှီးဖြတ်ရာတွင်လည်း အခြားသော ကိုးကွယ်ရာများ၏ အမည်များကို တသလေ့ရှိခဲ့ကြ၏။ ဤမုက္ခပါဌ်တော်တွင် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား မိမိသည် ထိုထိုသော မုရှ်ရစ်က်များနှင့် လုံး၀ ဆန့်ကျင်သူဖြစ်ကြောင်း။ မိမိ၏ဆွလာတ် ခဝပ်မှုအားလုံးနှင့် သေရေး၊ ရှင်ရေးအားလုံးတို့သည် အလ္လာဟ်အရှင်မြတ် နှစ်သက်တော်မူရန်အတွက်သာလျှင် ဖြစ်ကြောင်း ကြေငြာစေတော်မူသည်။

အီဗ်နုကဆီရ်။ အ-၂၊ စ-၁၉၈။

② အစ္စလာမ်သာသနာတွင် နဗီတမန်တော်သည် ဗျာဒိတ်ဟောသူ သတင်းပေးသူ သို့မဟုတ် ဖိတ်ကြားသူ၊ ဆော်ဩသူသာလျှင် မဟုတ်ပေ။ နဗီတမန်တော်သည် မိမိဟောကြားသော သာသနာ၊ ချမှတ်သောလမ်းစဉ်ကို မိမိကိုယ်တိုင် ဦးစွာပထမ စံပြအဖြစ်၊ ကာယကံမြောက် လိုက်နာကျင့်သုံး၍ ပြသရပေသည်။

قُلْ أَغَيْرَ اللَّهِ أَبْغِي رَبًّا وَهُوَ رَبُّ
كُلِّ شَيْءٍ ۚ وَلَا تَكْسِبُ كُلُّ نَفْسٍ
إِلَّا عَلَيْهَا ۚ وَلَا تَزِرُ وَازِرَةٌ وِزْرَ
أُخْرَىٰ ۚ ثُمَّ إِلَىٰ رَبِّكُمْ مَرْجِعُكُمْ
فَيُنَبِّئُكُمْ بِمَا كُنْتُمْ فِيهِ
تَخْتَلِفُونَ ﴿١٦٤﴾

၁၆၄။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား တဖန် ထပ်မံ၍ ဤသို့) ပြောကြားပါဦးလေ။ (အချင်းတို့) ငါသည် အလ္လာဟ်အရှင်မြတ်အပြင် အခြားကို ဖန်ဆင်းမွေးမြူသော အရှင်အဖြစ် ရှာဖွေရပါမည်လော။ အမှန်စင်စစ်သော်ကား ထို(အလ္လာဟ် အရှင်မြတ်သည်ပင်လျှင် အရာခပ်သိမ်းတို့ကို ဖန်ဆင်း မွေးမြူတော်မူသော အရှင် ဖြစ်တော်မူသည်။

၎င်းပြင် မည်သူမဆို (တစုံတရာကို) ရှာဖွေဆည်းပူး ပြုလုပ်ခဲ့သော် ထိုသူ၏အပေါ်၌သာလျှင် ရှိပေအံ့။ ထို့ပြင် သယ်ပိုးသူတဦးမျှပင် *သူတပါး၏ ဝန်ကို သယ်ပိုးလိမ့်မည်မဟုတ်ပေ။* [၁]

ထို့နောက် အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် အထံတော်သို့သာလျှင် ပြန်ကြရမည်။ ထိုအခါ ထိုအရှင်မြတ်သည်ပင်လျှင် အသင်တို့အား၊ အသင်တို့ကွဲပြားလျက် ရှိခဲ့ကြသော ကိစ္စများကို သိစေတော်မူမည်။

---

(၁) "ကဖ္ဖာရဟ်" တမန်တော်အီစာ (အလိုင်ဟစ္စလာမ်) သည် မိမိ၏ နောက်လိုက် တပည့်သား တို့၏ အပြစ်အားလုံးကို မိမိကိုယ်တိုင် ခံယူသွားတော် မူသည် ဟူသော မစီဟီများ၏ အယူဝါဒသည် လုံးဝမှားသည်။ ဖခင်ကြီး အာဒမ်သခင်၏ မေ့မှားမှု၏ အပြစ်ဒဏ်ကို ဖခင်ကြီး အာဒမ်သခင်၏ သားသမီး အားလုံးတို့သည် ဆွေစဉ်မျိုးဆက်၊ အဆက်ဆက် ခံကြရမည် ဟူသော အဆိုပါ မစီဟီများ၏ အယူဝါဒ သည်လည်း လုံးဝမှားသည်။ ထို့အတူ အလ္လာဟ် အရှင်မြတ်သည် အပြစ်ရှိသူ တဦး၏အစား အလိုတော်ရှိရာ အခြားသူ တဦးတယောက်အား အပြစ်ဒဏ် ပေးတော်မူသည် ဟူသော မုရှိရစ်က်တို့၏ အယူဝါဒ သည်လည်း လုံးဝ မှားသည်။

မိမိ၏အပြစ်ကို မိမိသာလျှင် ခံရမည်အကြောင်း ကုရ်အာန်(၁၇း၁၅။ ၂၀း၁၁၂။ ၃၄း၂၅-၂၆။ ၃၅း၁၈။ ၃၉း၇။ ၅၃း၃၈။ ၇၄း၃၈)တွင်လည်း မိန့်ဆို ထားတော်မူသည်။ သို့ရာတွင် မိဘများကလည်း မုအ်မင်န်ဖြစ်ကြမည်။ သားသမီးများကလည်း မုအ်မင်န် ဖြစ်ကြမည်ဆိုလျှင် အလ္လာဟ်အရှင်မြတ်သည် သားသမီးများအား မိဘတို့၏ အဆင့်အတန်းသို့ ပို့ပေးတော်မူမည့်ကြောင်း ကုရ်အာန် (၅၂း၂၁)တွင် မိန့်ဆိုထားတော်မူသည်။

ဤအကြောင်းနှင့်စပ်လျဉ်း၍ အကျယ်ကို သိလိုပါက အိဗ်နုကဆီရ် - အ- ၂။ စ - ၁၉၉ တွင် ရှုပါကုန်။

وَهُوَ الَّذِي جَعَلَكُمْ خَلَٰٓئِفَ الْأَرْضِ وَرَفَعَ بَعْضَكُمْ فَوْقَ بَعْضٍ دَرَجَٰتٍ لِّيَبْلُوَكُمْ فِي مَآ ءَاتَىٰكُمْ ۗ إِنَّ رَبَّكَ سَرِيعُ الْعِقَابِ وَإِنَّهُۥ لَغَفُورٌ رَّحِيمٌۢ ﴿١٦٥﴾

၁၆၅။ ထိုအရှင်မြတ်သည်ပင်လျှင် အသင်တို့အား ပထဝီမြေပြင်၌ *ကိုယ်စားလှယ်များအဖြစ် ချီးမြှင့်တော်မူခဲ့လေသည်။* [၁] ၎င်းအပြင် ထိုအရှင်မြတ်သည်ပင်လျှင် အသင်တို့အား မိမိချီးမြှင့်ထားတော်မူသော ကျေးဇူးတော်များနှင့်စပ်လျဉ်း၍ စမ်းသပ်တော်မူခြင်းငှာ အသင်တို့အနက် *အချို့ကို အဆင့်အတန်းအားဖြင့် အချို့ထက်မြင့်စေတော်မူခဲ့၏။* [၂]

ဧကန်စင်စစ် အသင့်အား မွေးမြူတော်မူသော အရှင်မြတ်သည် လျှင်မြန်စွာ ပြစ်ဒဏ်ပေးတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။ ၎င်းပြင် ထိုအရှင်မြတ်သည် အလွန် လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ အလွန်သနားကြင်နာတော်မူသော အရှင်မြတ်လည်း ဖြစ်တော်မူပေသတည်း။

---

(၁) (က) အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား ကမ္ဘာမြေပြင်တွင် မိမိတို့၏ ကိုယ်စားလှယ်တော်များအဖြစ် ခန့်အပ်ထားထားတော်မူသည်။ ယင်းသို့ ခန့်အပ်ထားတော်မူသည့်အတွက် လူသားများသည် မိမိတို့အား ထိုအရှင်မြတ်က ချီးမြှင့်ထားတော်မူသော အခွင့်အလမ်းများကို အသုံးပြု၍ စီမံအုပ်ချုပ်သူများအနေဖြင့် ကမ္ဘာမြေပြင်တွင် ခြယ်လှယ်လျက် ရှိကြပေသည်။

(ခ) သို့တည်းမဟုတ် ထိုအရှင်မြတ်သည် လူသားတို့အား အချင်းချင်း တဦးကိုတဦး၏ အရိုက်အရာဆက်ခံသူ၊ လူတမျိုးကို လူတမျိုး၏ အရိုက်အရာဆက်ခံသူများအဖြစ် ခန့်အပ်ထားတော်မူသည်။ ဥပမာ – လူတမျိုး ကွယ်ပျောက်သွားသည့်အခါ နောက်လူမျိုးတမျိုးအား ပထမ၊ ကွယ်ပျောက်သွားသော လူမျိုး၏ အရိုက်အရာကို ဆက်ခံစေတော်မူသည်။

(၂) အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား အဆင့်အတန်းများ၊ အခြေအနေများ၊ ခွဲခြား၍ပေးထားတော်မူသည်။ ဥပမာ – လူသားများသည် အဆင်းသဏ္ဍာန်၊ အသွေးအရောင်၊ ကိုယ့်ကျင့်တရား၊ အရည်အချင်း၊ အကောင်းအဆိုး၊ ဥစ္စာပစ္စည်း၊ ဂုဏ်အင်ဒြပ်များတွင် တဦးနှင့်တဦး မတူကြချေ။ အမျိုးမျိုး အစားစား ကွဲပြားခြားနားလျက် ရှိကြပေသည်။ ယင်းသို့ အမျိုးမျိုး အစားစား ခွဲခြားထားတော်မူခြင်းမှာ ထိုထိုသော အဆင့်အတန်း၊ ထိုထိုသော အရည်အချင်းများတွင် မည်သူသည် မည်မျှ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို နာခံကြောင်းထင်ရှားစေရန်ပင် ဖြစ်သည်။ အွတ်ဆ်မာနီ။

## ကြငှန်းများကဏ္ဍ

## سُورَةُ الأَعْرَافِ

“စူရဟ်အအ်ရာဖ်” သည် မက္ကာမြို့တော်၌ ကျရောက်သော ကဏ္ဍဖြစ်သည်။
ဤကဏ္ဍတွင် အာယတ်ပေါင်း (၂၀၆) ရက္ကူအ် အပိုဒ်ပေါင်း (၂၄) ပါရှိသည်။

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

အစဉ် သနားကြင်နာ ညှာတာတော်မူသော အနန္တကရုဏာရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

الٓمٓصٓ ①

၁။ *“အလစ်ဖ်၊ လာမ်၊ မီမ်၊ ဆွာဒ်”။* [၁]

كِتَٰبٌ أُنزِلَ إِلَيْكَ فَلَا يَكُن فِى صَدْرِكَ حَرَجٌ مِّنْهُ لِتُنذِرَ بِهِۦ وَذِكْرَىٰ لِلْمُؤْمِنِينَ ②

၂။ (ဤသည်) အသင့်ထံ ထုတ်ပြန်ခဲ့သော ကျမ်းဂန်တစောင်ဖြစ်၏။ (ဤကျန်းဂန်သည်) အသင်သည် ထိုကျမ်းဂန်ဖြင့် သတိပေးနှိုးဆော်ရန် အလို့ငှာဖြစ်သည်။ သို့ဖြစ်ပေရာ အသင်၏စိတ်တွင်း ဝယ် *မည်သို့မျှ ကျဉ်းကျပ်မှုမဖြစ်ရာချေ။* [၂] ၎င်းပြင် (ဤကျမ်းဂန်သည်) “မုအ်မင်န်” သက်ဝင်ယုံကြည်သူတို့အဖို့ ဆုံးမသြဝါဒလည်း ဖြစ်ချေသတည်း။

---

⑴ အနက်အဓိပ္ပါယ် လျှို့ဝှက်ထားသော သင်္ကေပအက္ခရာစုကို “ဟုရူဖီ မုကတ်တွအဟ်”ဟု ခေါ်သည်။ ထိုအက္ခရာစု၏ အနက်အဓိပ္ပါယ်ကို အလ္လာဟ်အရှင်မြတ်မှတပါး မည်သူမျှ တပ်အပ်သေချာမသိချေ။

⑵ ‘ဆွဟာဗီ’ သာဝကကြီးအိဗ်နုအဗ္ဗာစ်သခင်သည် ‘ဟရဂျ်’ဟူသောပုဒ်၏အနက်ကို ဒွိဟသံသယဟူ၍ဖွင့်ဆိုသည်။ သို့ရှိရာ( فَلَا يَكُن فِى صَدْرِكَ حَرَجٌ مِّنْهُ )ဟူသော မုက္ခပါဌ်တော်သည် ( فَلَا تَكُونَنَّ مِنَ الْمُمْتَرِينَ ) ဟူသော မုက္ခပါဌ်တော်နှင့် အဓိပ္ပါယ်တူ ဖြစ်သွားပေမည်။ ဤဖွင့်ဆိုချက်အရ ဤမုက္ခပါဌ်တော်၏ အလိုသဘောမှာ၊ အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်ထုတ်ပြန်ချီးမြှင့်တော်မူခြင်း ခံရသော တမန်တော်တပါးသည် ၎င်းထံသို့ ထုတ်ပြန်ချမှတ်တော်မူသော ကျမ်းဂန်၏အမိန့် ပညတ်တော်များနှင့် စပ်လျဉ်း၍ အနည်းငယ် စိုးစဉ်းမျှပင် ဒွိဟ၊ သံသယမရှိရာချေ။

အခြားမုဖတ်စ်စစ်ရ်များက၊ “ဟရဂျ်” ဟူသောပုဒ်၏အနက်အဓိပ္ပာယ်ကို ယင်းပုဒ်၏မူလ ပေါ်လွင်ထင်ရှားသော အဓိပ္ပာယ် (ဝါ) ကျဉ်းကျပ်မှုဟူ၍ပင် ဖွင့်ဆိုကြသည်။ ရှိုင်ခုလ်ဟင်နဒ် မောင်လာနာ မဟ်မူဒ်ဟစန်သခင်၊ (ထာနဝီသခင်တို့) သည်လည်း ဤအတိုင်းပင် ဖွင့်ဆိုရေးသားကြသည်၊ ဤအဆိုအရ၊ ဤမုက္ခပါဌ်တော်၏အလိုသဘောမှာ အလ္လာဟ်အရှင်မြတ်သည် လူသားတို့အနက် ရွေးချယ်ထားတော်မူ၍ ➤➤

اِتَّبِعُوْا مَآ اُنْزِلَ اِلَيْكُمْ مِّنْ رَّبِّكُمْ وَلَا تَتَّبِعُوْا مِنْ دُوْنِهٖٓ اَوْلِيَآءَ ۗ قَلِيْلًا مَّا تَذَكَّرُوْنَ ۝٣

၃။ အသင်တို့သည် မိမိတို့၏ *အရှင်မြတ် အထံတော်မှ မိမိတို့ထံ ကျရောက်လာသော ဒေသနာတော်ကိုသာ* [၁] လိုက်နာကြလေကုန်။ ၎င်းပြင် အသင်တို့သည် ထိုအရှင်မြတ်မှတပါး *အခြားမိတ်ဆွေများ(၏ ပြောစကားများ)ကို* မလိုက်နာ*ကြကုန်လင့်*။ [၂] အမှန်စင်စစ်သော်ကား အသင်တို့သည် ဆုံးမဩဝါဒများကို အနည်းငယ်မျှသာလျှင် နာယူကြကုန်သတည်း။

---

➤➤ မိမိ၏ကျမ်းဂန်ကို ချီးမြင့်တော်မူ၏။ ယင်းသို့ ရွေးချယ်ချီးမြင့်တော်မူခြင်းခံရသော တမန်တော်တပါးသည် သူယုတ်မာများ၊ သူမိုက်များ၏ ကဲ့ရဲ့၊ ပြစ်တင်၊ ရှုတ်ချမှုများကြောင့် ထိုကျမ်းဂန်လာ ဒေသနာတော်များကို ဟောကြားရာတွင် အလျင်း ရင်မလေးရာ၊ စိတ်မပျက်ရာ၊ မိမိ၏ရင်တွင် ခက်ခဲမှု၊ ကျဉ်းကျပ်မှုတစုံတရာ အလျင်းမတွေ့ရှိရာ။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ်(၁၁း၁၂)တွင်လည်း မိန့်ဆိုထားတော်မူသည်။

မပြောကောင်း၊ မဆိုအပ်၊ အကယ်တန္တ တမန်တော်တပါး၏စိတ်တွင် မိမိထံ ထုတ်ပြန်ပို့ချထားတော်မူသော ကျမ်းဂန်နှင့်စပ်လျဉ်း၍သော်၎င်း၊ ထိုကျမ်းဂန်၏ အနာဂတ်နှင့်စပ်လျဉ်း၍သော်၎င်း၊ ပြည့်ဝစုံလင်တိကျပြတ်သားသော ယုံကြည်မှုမရှိခဲ့ပါသော် ထိုတမန်တော်သည် မိမိ၏ တာဝန်ဖြစ်သော တရားဓမ္မဟောကြားမှု၊ သတိပေးမှု၊ နှိုးဆော်မှုများကို ရဲ့ဝံ့စွာ အသို့လျှင် ပြုနိုင်တော်မူပါအံ့နည်း။ (အမှန်မှာ ပွင့်လေသမျှသော တမန်တော်အပေါင်းတို့သည် မိမိတို့ထံထုတ်ပြန်ပို့ချတော်မူသော ကျမ်းဂန်များကို အတိအကျ လေးနက်စွာ ယုံကြည်၍ ကျမ်းဂန်လာ ဒေသနာတော်များကိုလည်း တသဝေမသိမ်း စံပြအဖြစ် လိုက်နာကျင့်သုံးတော်မူနိုင်ခဲ့ကြပေသည်၊ သူတပါးတို့အားလည်း ရဲဝံ့စွာ ဟောကြားတော်မူနိုင်ခဲ့ကြပေသည်။

(၁) "အသင်တို့ထံ အသင်တို့၏ အရှင်မြတ်ထံတော်မှ ကျရောက်လာသောအရာ" ဟူသော မုက္ခပါဌ်တော်တွင် ကုရ်အာန်ကျမ်းမြတ်သည်၎င်း၊ တမန်တော်မြတ်၏ စွန္နတ်သည်၎င်း အကျုံးဝင်ပေသည်။ အဘယ့်ကြောင့်ဆိုသော် ကုရ်အာန်ကျမ်းမြတ် (၅၃း၂၃)တွင် "တမန်တော်မြတ်သည် (မိမိ)အလိုဆန္ဒဖြင့် ပြောကြားသည် အလျင်းမရှိ။ တမန်တော်မြတ် ပြောကြားသမျှသည် ထုတ်ပြန်ပို့ချတော်မူသော ဝဟီသာလျှင် ဖြစ်ချေသည်" ဟု အလ္လာဟ်အရှင်မြတ်က မိန့်ဆိုထားတော်မူခြင်းကြောင့် ဖြစ်သည်။

(၂) ဤမုက္ခပါဌ်တော်တွင် ပါရှိသော "အောင်လိယာ" မိတ်ဆွေများဟူသည် ကုရ်အာန်ကျမ်းမြတ် (၆း၁၁၂)တွင် ပါရှိသည့် ဂျင်န်ရှိုင်တွာန်၊ လူရှိုင်တွာန်များကို ဆိုလိုသည်။

အကယ်၍ လူသားများသည် အလ္လာဟ်အရှင်မြတ်၏ ကြီးကျယ်လှစွာသော မွေးမြူဖန်ဆင်းမှု မိမိတို့၏ ဖြစ်စဉ်အစ၊ ဖြစ်စဉ်အဆုံး။ အမိန့်တော်နာခံမှု၏ အကျိုး၊ မနာခံမှု၏အပြစ်များကို အတိအကျတွေးဆ၊ ဆင်ခြင်ကြပါလျှင်၊ မိမိတို့၏ အရှင်သခင် ချမှတ်ပေးတော်မူသော ဒေသနာတော်များကို စွန့်လွှတ်၍ လူရှိုင်တွာန်၊ ဂျင်န်ရှိုင်တွာန်များ၏ စကားများကို နာခံဝံ့ကြမည် မဟုတ်ပေ။

အတိတ်ခေတ်များတွင် အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်များနှင့် နဗီတမန်တော်များအား ➤➤

وَكَم مِّن قَرْيَةٍ أَهْلَكْنَٰهَا فَجَآءَهَا بَأْسُنَا بَيَٰتًا أَوْ هُمْ قَآئِلُونَ ④

၄။ ငါအရှင်မြတ်သည် များစွာသော မြို့ရွာများကို ဖျက်ဆီးတော်မူခဲ့လေသည်။ (၁) သို့ ဖျက်ဆီးရာတွင် ငါအရှင်မြတ်၏ပြစ်ဒဏ်သည် ထိုမြို့သူမြို့သား ရွာသူရွာသားတို့အပေါ်ဝယ် ညဥ့်အချိန်၌သော်၎င်း၊ ထိုသူတို့သည် နေ့လည်အချိန်တွင် အပန်းဖြေနေကြသောအခါ၌သော်၎င်း၊ ဆိုက်ရောက်ခဲ့လေသည်။ (၂)

فَمَا كَانَ دَعْوَىٰهُمْ إِذْ جَآءَهُم بَأْسُنَآ إِلَّآ أَن قَالُوٓا۟ إِنَّا كُنَّا ظَٰلِمِينَ ⑤

၅။ သို့ဖြစ်ပေရာ ထိုသူတို့ထံ ငါအရှင်မြတ်၏ ပြစ်ဒဏ်ဆိုက်ရောက်လာသောအခါ ထိုသူတို့က "ကျွန်ုပ်တို့သည်သာလျှင်မတရား ကျူးလွန်သူများ ဖြစ်ကြပါသည်" ဟု ပြောဆိုခြင်းမှတပါး အခြားတစုံတရာမျှ ဆင်ခြေပေးနိုင်ခြင်း မရှိခဲ့ကြချေ။

---

➤➤ သွေဖည်ကျော်ခိုင်းခဲ့သော အုပ်စုများသည် ဤပစ္စက္ခဘဝ၌ အပြစ်ဒဏ် တပ်ရိုက်တော်မူခြင်းကို ခံခဲ့ကြရသည့်အကြောင်း ရှေ့တွင် မိန့်ဆိုထားတော်မူသည်။

(၁) အကြင်သူများ၏ ကျူးလွန်မှု၊ စော်ကားမှု၊ သွေဖည်ငြင်းဆန်မှု၊ မောက်မာမှုများသည် လမ်းဆုံးသောအခါ ၎င်းတို့သည် လောကီစည်းစိမ်များတွင် အလွန့်အလွန် နစ်မွန်း၍ သွားကြ၏။ အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်တော်ကို လုံးဝ အမေ့ကြီးမေ့ကာ စိတ်ချလက်ချ အအိပ်ကြီး အိပ်စက်ကြ၏။ ထိုအချိန်မျိုးတွင် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်တော်သည် ရုတ်တရက် ၎င်းတို့ထံ ရောက်ရှိလာလေသည်။

ကြောက်မက်ဖွယ် ကောင်းလှသောအပြစ်ဒဏ်ကို တွေ့မြင်ကြရသောအခါ၊ ထိုသူများသည် ယခင်က မိုက်မှားခဲ့ကြသော ကျူးလွန်မှု၊ စော်ကားမှု၊ သွေဖည်မှု၊ မောက်မာမှုများကို မေ့ပျောက်ခါ၊ မိမိတို့၏အမှားကို ကွင်းကွင်းကွက်ကွက် တွေ့မြင် လာကြပြီး "ကျွန်တော်မျိုးတို့သာလျှင် ကျူးလွန်သောသူများ ဖြစ်ကြပါသည်" ဟု ကြွေးကြော် မြည်တမ်းကြ၏။ တနည်းအားဖြင့် ယင်းကဲ့သို့ ကြွေးကြော်မြည်တမ်းခြင်းမှာ အလ္လာဟ်အရှင်မြတ်သည် မည်သူတဦးတယောက်ကိုမျှ မတရားပြုတော်မူသည် မဟုတ်။ မိမိတို့သာလျှင် မိမိတို့ကိုယ်ကို မိမိတို့ ကျူးလွန်စော်ကား ညှင်းပန်းနှိပ်စက်လျက် ရှိကြသည်ကို ထုတ်ဖော်ဝန်ခံခြင်းပင် ဖြစ်သည်။ (သို့ရာတွင် ထိုအချိန်ကား ဝန်ခံ၍အကျိုးမရှိသော အချိန်ဖြစ်ချေပြီ။ ကြည့်-ထာနဝီ။

(၂) အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်တော်သည် ညဥ့်အချိန်၌သော်၎င်း၊ နေ့လည် အပန်းဖြေ အိပ်စက်နေချိန်၌သော်၎င်း၊ ရောက်ရှိလာခဲ့၏။ ယင်းကဲ့သို့ အပြစ်ဒဏ်ရောက်လာခဲ့သည့် အချိန်၂-ချိန်ကို အထူးတလည် သီးသန့်ထုတ်ဖော် မိန့်ဆိုထားတော်မူခြင်းမှာ ထိုအချိန် ၂-ချိန်သည် များသောအားဖြင့် အမှုမဲ့၊ အမှတ်မဲ့ စိတ်ချလက်ချနေသော အချိန်များဖြစ်ခြင်းကြောင့်ပင် ဖြစ်ပေသည်။

فَلَنَسْـَٔلَنَّ الَّذِيْنَ اُرْسِلَ اِلَيْهِمْ وَلَنَسْـَٔلَنَّ الْمُرْسَلِيْنَ ﴿٦﴾

၆။ ပြီးနောက် တဖန် ငါ အရှင်မြတ်သည် တမန်တော်များ စေလွှတ်ခြင်းခံခဲ့ကြရသူတို့အား မုချ စစ်ဆေး မေးမြန်းတော်မူအံ့။ ထိုနည်းတူစွာ ငါ အရှင်မြတ်သည် "ရစူလ်" တမန်တော်တို့အားလည်း ဧကန်မလွဲ စစ်ဆေးမေးမြန်းတော်မူအံ့။ [၁]

فَلَنَقُصَّنَّ عَلَيْهِمْ بِعِلْمٍ وَّمَا كُنَّا غَآئِبِيْنَ ﴿٧﴾

၇။ ထို့နောက် ငါအရှင်သည် ၎င်းတို့ရှေ့ဝယ် (အလုံးစုံတို့ကို) *အကြွင်းမဲ့ သိရှိတော်မူသည့်အတိုင်း (ပြန်လည်) မိန့်ကြားတော်မူအံ့။* [၂] အမှန်စင်စစ် သော်ကား ငါအရှင်မြတ်သည် မည်သည့်အခြေအနေ မည်သည့်အချိန်၌မျှ ပျောက်ကွယ်နေတော်မူသည် မဟုတ်ချေ။

وَالْوَزْنُ يَوْمَئِذِ ِۨالْحَقُّ ۚ فَمَنْ ثَقُلَتْ مَوَازِيْنُهٗ فَاُولٰٓئِكَ هُمُ الْمُفْلِحُوْنَ ﴿٨﴾

၈။ ၎င်းပြင် ထိုနေ့တွင် (ကုသိုလ်အကုသိုလ်များကို) ချိန်စက်မည်မှာ(လည်း) လုံးဝ မှန်ကန်၏။ သို့ဖြစ်ပေရာ အကြင်သူ၏ အလေးချိန်သည် အချိန်စီးအံ့။ ထို(ကဲ့သို့သော) သူတို့သည်ပင်လျှင် အောင်မြင်သောသူများ ဖြစ်လတ္တံ့။

---

(၁) အလ္လာဟ်အရှင်မြတ်သည် ကိယာမတ်နေ့တွင် နဗီတမန်တော်များ စေလွှတ်ခြင်းခံခဲ့ကြရသည့် အုပ်စုများအား အသင်တို့သည် ရစူလ်တမန်တော်များအား အသို့အဖြေပေးခဲ့ကြသနည်း" ဟူ၍၎င်း၊ (ကြည့်-ကုရ်အာန် ၂၈း၆၅) ရစူလ်တမန်တော်များအား "အသင်တို့သည် အသို့အဖြေရခဲ့ကြသနည်း" ဟူ၍၎င်း၊ (ကြည့်-ကုရ်အာန် ၅း၁၀၉) စစ်ဆေးမေးမြန်းတော်မူမည်ဖြစ်သည်။

(၂) အလ္လာဟ်အရှင်မြတ်သည် သဗ္ဗညုတဉာဏ်တော်ရှင် ဖြစ်တော်မူသည်။ လူသားတို့ ပြုလုပ်သမျှသော အရာများ၊ စကြာဝဠာအဝန်းတွင် ဖြစ်ပျက်သမျှသော အဖြစ်အပျက်များ၊ ကြီးသည်ဖြစ်စေ၊ ငယ်သည်ဖြစ်စေ၊ ထင်ရှားသည်ဖြစ်စေ၊ မထင်ရှားသည်ဖြစ်စေ၊ အရာခပ်သိမ်းကုန်တို့ကို အရှင်မြတ်သည် လုံးဝဥဿုံ အလုံးစုံ အကြွင်းမဲ့ သိရှိတော်မူသည်။ ယင်းသို့ သိရှိတော်မူရာတွင် အရှင်မြတ်သည် တစုံတရာကိုမျှ မှီခိုအားထားတော်မူရသည်ဟူ၍ အလျှင်းမရှိပေ။ ထိုသို့သိတော်မူသည့် အလျောက် ထိုအရှင်မြတ်သည် ကိယာမတ်နေ့တွင် လူသားတို့အား ၎င်း၏ရှေးဖြစ်၊ နှောင်းဖြစ်၊ အားလုံးတို့ကို ပြောပြတော်မူမည် ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်တမန်များအား လူသားတို့၏ အပြုအမူများကို ရေးမှတ်စေတော်မူ၏။ ယင်းသို့ရေးမှတ်စေတော်မူခြင်းမှာ စည်းစံနစ်ရှိစေတော်မူရန်နှင့် စီမံအုပ်ချုပ်ပုံကို ထင်ရှားပြတော်မူရန် သာလျှင် ဖြစ်ချေသည်။ အမှန်မှာ ထိုအရှင်မြတ်သည် လူသားတို့၏ အကြောင်းများကို ➤➤

وَمَنْ خَفَّتْ مَوَازِينُهُۥ فَأُو۟لَٰٓئِكَ ٱلَّذِينَ خَسِرُوٓا۟ أَنفُسَهُم بِمَا كَانُوا۟ بِـَٔايَٰتِنَا يَظْلِمُونَ ⑨

၉။ သို့ရာတွင်မူကား၊ အကြင်သူ၏ အလေးချိန်သည် *အချိန်ပေါ့ပါးအံ့။* [၁] ထို(ကဲ့သို့သော)သူတို့သည်သာလျှင် မိမိတို့ကိုယ်ကို (မိမိတို့ပင်) နစ်နာဆုံးရှုံးအောင် ပြုလုပ်ခဲ့သောသူများ ဖြစ်ကြ၏။ အကြောင်းမူကား ၎င်းတို့သည် ငါအရှင်မြတ်၏ သက်သေ လက္ခဏာများနှင့် စပ်လျဉ်း၍ မတရား ပြုလုပ်ခဲ့သောကြောင့် ပင်တည်း။

وَلَقَدْ مَكَّنَّٰكُمْ فِى ٱلْأَرْضِ وَجَعَلْنَا لَكُمْ فِيهَا مَعَٰيِشَ ۗ قَلِيلًا مَّا تَشْكُرُونَ ⑩

၁၀။ မုချစင်စစ် ငါအရှင်မြတ်သည် အသင်တို့အား ပထဝီမြေပြင်၌ တန်ခိုးအာဏာ ချီးမြှင့်ပေးသနားတော်မူခဲ့လေသည်။ (တနည်း) မုချစင်စစ် ငါအရှင်မြတ်သည် အသင်တို့အား ပထဝီမြေပြင်ဝယ် (အသင်တို့)နေထိုင်ရန် နေရာထိုင်ခင်း ချီးမြှင့်တော်မူခဲ့လေသည်။ ၎င်းပြင် ငါ အရှင်မြတ်သည် အသင်တို့အဖို့ ထိုပထဝီမြေ၌ ပရိယေသနအသက်မွေးဝမ်းကျောင်း ပြုနိုင်ရန် *အကြောင်း ကိစ္စများကိုလည်း ပြုလုပ်၍ ပေးသနားတော်မူခဲ့လေသည်။* [၂] (သို့ရာတွင်) အသင်တို့မူကား *အနည်းငယ်မျှသာ ကျေးဇူး သိတတ်ကြကုန်သတည်း။* [၃]

---

➤➤ သိရှိတော်မူနိုင်ရန်အတွက် ကောင်းကင်တမန်များ၏ မှတ်တမ်းများကို မှီခိုအားထားတော်မူသည် အလျှင်းမဟုတ်ပေ။ မိမိကိုယ်တော်တိုင်ပင် အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့သိရှိတော်မူပေသည်။ (ဤသို့ရေးမှတ်စေတော်မူခြင်းအားဖြင့် သက်သေ အထောက်အထား တရပ်လည်း ဖြစ်သွားပေသည်။)

(၁) စကားနှင့်စပ်လျဉ်း၍၎င်း၊ အကြံဉာဏ်နှင့်စပ်လျဉ်း၍၎င်း၊ အနက်အဓိပ္ပာယ်နှင့်စပ်လျဉ်း၍၎င်း၊ ဥပမာ–ဤစကား အလေးချိန်ရှိသည်။ လေးနက်သည်။ ပေါ့သည် စသည်ဖြင့် အလေးချိန်ဟူသောစကားကို ကျွန်ုပ်တို့သည် နေ့စဉ်နှင့်အမျှ တင်စား၍ သုံးနှုန်းသည်လျက်ရှိကြသည်။ ဤသို့ သုံးနှုန်းသည်ကိုလည်း အားလုံးပင် လက်ခံကြပေသည်။ (ယခု ဤပစ္စက္ခဘဝတွင် ဤအသုံးအနှုန်းသည်သည် "ဥပစာ" ဖြစ်သော်လည်း နောင်ကိယာမတ်နေ့တွင်မူကား "မုချ" ဖြစ်၍လာပေမည်။ (အဘယ့်ကြောင့်ဟူမူ) ကိယာမတ်နေ့သည် ဖြစ်စဉ်ဖြစ်ရပ် အမှန်များကွင်းကွင်းကြီး ပေါ်လွင်ထင်ရှား၍လာမည့်နေ့ဖြစ်သည်။ 'ဥပမာ' မှန်သမျှ 'မုချ' ဖြစ်၍လာမည့်နေ့ပင် ဖြစ်သည်။

ချိန်တွယ်နိုင်ရန်အတွက် အကောင်အထည် ကိုယ်ခန္ဓာရှိခြင်းတည်းဟူသော စည်းကမ်းချက်သည် ဤပစ္စက္ခဘဝ၌သာလျှင် ရှိပေသည်။ နောင်တမလွန်ဘဝ၌မူကား ဤစည်းကမ်းချက်မရှိပေ။ ➤➤

وَلَقَدْ خَلَقْنَٰكُمْ ثُمَّ صَوَّرْنَٰكُمْ ثُمَّ قُلْنَا لِلْمَلَٰٓئِكَةِ ٱسْجُدُوا۟ لِءَادَمَ فَسَجَدُوٓا۟ إِلَّآ إِبْلِيسَ لَمْ يَكُن مِّنَ ٱلسَّٰجِدِينَ ﴿١١﴾

**၁၁။** မုချစင်စစ် ငါ အရှင်မြတ်သည်ပင်လျှင် အသင်တို့အား ဖန်ဆင်းတော်မူခဲ့လေသည်။ ထို့နောက် ငါအရှင်မြတ်သည် အသင်တို့၏ ရုပ်သဏ္ဍာန်ကို ပြုလုပ်တော်မူခဲ့လေသည်။ ထို့နောက် ငါအရှင်မြတ်သည် "မလာအိကဟ်" ကောင်းကင်တမန်တို့အား "အာဒမ်ကို ပျပ်ဝပ်ဦးချကြလေကုန်" ဟု မိန့်ကြားတော်မူခဲ့လေသည်။ သို့ဖြစ်ပေရာ အီဗ်လီးစ်မှတပါး "မလာအိကဟ်" ကောင်းကင်တမန်အပေါင်းတို့သည် ပျပ်ဝပ်ဦးချခဲ့ကြလေသည်။ ယင်း အီဗ်လီးစ်မှာမူကား ပျပ်ဝပ်ဦးချသူတို့အနက် အပါအဝင် မဖြစ်ခဲ့ချေ။

---

➤➤ ဤဘဝတွင် မမြင်မတွေ့ရသော အရာများသည်ပင်လျှင် ထိုဘဝတွင် မြင်ရတွေ့ရပေမည်။ ဤမုကွှ်ပါဠ်တော်တွင် ပါရှိသည့် "ချိန်တွယ်ခြင်း" ၏ ဥပစာအနက်ကိုလည်း ဤအတိုင်းပင် ဖွင့်ဆိုကြပေသည်။ သို့ရာတွင် "အလ်လိစ္စနွတ်ဝလ်ဂျမာအတ်" ၏ "အဓိပတိ ပညာရှိ သုခမိန်ကြီးများကမူ အကြောင်းထူးမရှိဘဲလျက် "မုချ" ကိုစွန့်၍ "ဥပစာ" အနက်ကောက်ယူခြင်းကို မပြုသင့် မပြုအပ်ဟုဆို ကြလေသည်။

(၂) ကမ္ဘာမြေပြင်တွင် အေးချမ်းသာယာစွာနေထိုင်ရန်အတွက် နေရာထိုင်ခင်းရရှိခြင်းနှင့် ပရိယေသန အသက်မွေးဝမ်းကျောင်းအတွက် လိုအပ်သမျှသော ပစ္စည်းများကို ပေါများစွာ ရရှိခြင်းများသည် ကျေးဇူးတင်စေရန် အတွက် ထူးခြားသောအကြောင်းအရာများပင် ဖြစ်ပေသည်။

ထာနဝီသခင်က "ဤမုကွှ်ပါဠ်တော်တွင်ပါရှိသော ကျေးဇူးတော် ၂ ပါးအနက် ပထမကျေးဇူးတော်၏ အချုပ်မှာ ဂုဏ်အင်ဒြပ်ဖြစ်၍ ဒုတိယကျေးဇူးတော်၏ အချုပ်မှာ ဥစ္စာပစ္စည်းများပင်ဖြစ်သည်။ ထိုကျေးဇူးတော် ၂-ပါးကို ကျေးဇူးတင်ရှိစေရန် အကြောင်းများတွင် ထည့်သွင်းမိန့်ဆိုထားတော်မူခြင်းကို ထောက်ရှုခြင်းအားဖြင့် ယင်းဂုဏ်အင်ဒြပ်နှင့် ဥစ္စာပစ္စည်းများမှာ စက်ဆုပ်ရွံရှာဖွယ်ရာမဟုတ်။ နှစ်လိုဖွယ်ရာများ၊ ကျေးဇူးအထူး တင်ဖွယ်ရာများသော ဖြစ်ကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။ သို့ရာတွင် ထိုဂုဏ်အင်ဒြပ်နှင့် ဥစ္စာပစ္စည်းရေး များတွင်သာ နစ်မွန်း၍ကား မနေသင့်ပေ။ မာဂျိဒီ။ အအ-၂၊ စ-၃၂၅၊ အအ-၁၁။

(၃) ပြစ်ဒဏ်တပ်ရိုက်ရန်အတွက် အဓိကအပြစ်မှာ ကျေးဇူးကန်းခြင်းပင်ဖြစ်သည်။ ကျေးဇူးသိခြင်း၊ ကျေးဇူးတင်ခြင်း၊ ကျေးဇူးတုံ့ပြန်ခြင်းကား သတ်မှတ်ပြဋ္ဌာန်းထားသော တာဝန်များကျေပွန်ခြင်းပင် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်အား ကျေးဇူးတင်ခြင်းကား ထိုအရှင်မြတ် သတ်မှတ် ပြဋ္ဌာန်းထားတော်မူသော တာဝန်များကို ကျေပွန်ခြင်းပင်တည်း။

(လူသားတို့တွင် ကျေးဇူးသိတတ်သူကား နည်းပါးလှ၏။ ဤကား မျက်မြင်ပင်။ ဤသည့်အကြောင်းကို ကုရ်အာန်ကျမ်းမြတ် (၂း၂၄၃။ ၁၀း၆၀။ ၁၂း၃၈။ ၂၇း၇၃။ ၄၀း၆၁။ ၃၄း၁၃) တွင်လည်း မိန့်ဆိုထားတော်မူသည်)။ မာဂျိဒီ

قَالَ مَا مَنَعَكَ أَلَّا تَسْجُدَ إِذْ أَمَرْتُكَ قَالَ أَنَا خَيْرٌ مِّنْهُ خَلَقْتَنِي مِن نَّارٍ وَخَلَقْتَهُ مِن طِينٍ ⑫

၁၂။ (ထိုအခါ) အရှင်မြတ်က "(ဟယ်-အီဗ်လီးစ်) ငါအရှင်မြတ်သည် အသင့်အား အမိန့်ပေးတော်မူခဲ့သည့်အခါ မည်သည့်အရာက အသင့်ကို ဦးမချရန် တားမြစ်ခဲ့သနည်း" ဟု မေးမြန်းတော်မူခဲ့၏။ (ထိုအခါ) ယင်း အီဗ်လီးစ်က "(အို-အရှင်) ကျွန်တော်မျိုးသည် ထို(အာဒမ်)ထက် မြင့်မြတ်ပါသည်။ အရှင်မြတ်သည် ကျွန်တော်မျိုးအား၊ မီးဖြင့် ဖန်ဆင်းတော်မူ၍၊ ၎င်းကိုမူကား ရွှံ့မြေဖြင့် ဖန်ဆင်းတော်မူပါသည်" ဟု လျှောက်ထားခဲ့လေသည်။

قَالَ فَاهْبِطْ مِنْهَا فَمَا يَكُونُ لَكَ أَن تَتَكَبَّرَ فِيهَا فَاخْرُجْ إِنَّكَ مِنَ الصَّاغِرِينَ ⑬

၁၃။ (ထိုရောကာလ) ထိုအရှင်မြတ်သည် (ယင်း အီဗ်လီးစ်အား ဤသို့) မိန့်ကြားတော်မူခဲ့လေသည်။ (ဟယ်-အီဗ်လီးစ်) သို့ဖြစ်လျှင် အသင်သည် ဤ (ဂျန္နတ် အမတသုခဘုံ)မှ ဆင်းလော့။ အသင်သည် ဤ (ဂျန္နတ် အမတသုခဘုံ)၌ မောက်မာပလွှား(တနည်း)ဂုဏ်ဟိတ်ထုတ်ရန် မထိုက်ပေ။ သို့ဖြစ်ပေရာ အသင်သည် (ဤမှ)ထွက်လော့။ မုချဧကန် အသင်သည် ဂုဏ်သိရ် သိမ်ဖျင်းသူတို့တွင် အပါအဝင် ဖြစ်ချေသည်။ [၁]

قَالَ أَنظِرْنِي إِلَىٰ يَوْمِ يُبْعَثُونَ ⑭

၁၄။ (ထိုအခါ) ယင်းအီဗ်လီးစ်က "အို-အရှင် အရှင်မြတ်သည် ကျွန်တော်မျိုးအား ပြစ်ဒဏ်ပေးတော်မူခြင်းမှုရင်း၊ အသက်သေခြင်းမှုရင်း၊ သတ္တဝါအပေါင်းတို့ ရှင်ပြန်ထကြရမည့်နေ့အထိ ရွှေ့ဆိုင်းပေးတော်မူပါ"ဟု လျှောက်ထားခဲ့လေ၏။ [၂]

(၁) ဤ "ဂျန္နတ်"သည် အမိန့်တော်နာခံသူများအဖို့ ဖြစ်ချေသည်။ အမိန့်တော်ကို သွေဖည်ငြင်းဆန်သူများအဖို့ မဟုတ်ချေ။ ထို့အတွက်ကြောင့်ပင် အလ္လာဟ်အရှင်မြတ်သည် အီဗ်လီးစ်ကို ဂျန္နတ်မှ နှင်ထုတ်တော်မူခဲ့ခြင်း ဖြစ်သည်။ ယင်းသို့ နှင်ထုတ်တော်မူလိုက်သည့်အတွက် အီဗ်လီးစ်သည် ဂုဏ်သိရ် သေးသိမ်စွာဖြင့် ဂျန္နတ်မှ ထွက်ခဲ့ရလေသည်။ ဤဖြစ်စဉ်ဖြစ်ရပ်ကို ထောက်ရှု၍ မုဖတ်စ်စစ်ရ်များနှင့် ဖကီးဟ်ပညာသတ်ရှင်များက အလ္လာဟ် အရှင်မြတ်၏အမိန့်တော်ကို သွေဖည်ငြင်းဆန်လျှင် ဂုဏ်သိရ်သေးသိမ်ရမည်ဟု ထုတ်ဖော်ဆိုကြလေသည်။

قَالَ إِنَّكَ مِنَ الْمُنظَرِينَ ﴿١٥﴾

၁၅။ (သို့ဖြစ်ပေရာ) ထိုအရှင်မြတ်က "(ဟယ်-အီဗ်လီးစ်) မုချဧကန် အသင်သည် ရွှေ့ဆိုင်းခွင့်ရရှိပြီးဖြစ်သည်ဟု မိန့်ကြားတော်မူ၏။

قَالَ فَبِمَا أَغْوَيْتَنِي لَأَقْعُدَنَّ لَهُمْ صِرَاطَكَ الْمُسْتَقِيمَ ﴿١٦﴾

၁၆။ (ထိုအခါ) ၎င်းအီဗ်လီးစ်က (ဤသို့)လျှောက်ထားခဲ့လေ၏။ (အို - အရှင်) *အရှင်မြတ်သည် ကျွန်တော်မျိုးအားလမ်းမှားစေတော်မူသောကြောင့်* ၁ ကျွန်တော်မျိုးသည်လည်း ၎င်းတို့(အားလမ်းမှားစေရန်) အလို့ငှာ *အရှင်မြတ်၏တရားလမ်းမှန်၌ မုချ(ပုန်းလျှိုးချောင်းမြောင်း၍) ထိုင်နေပါမည်။* ၂

---

(၂) အီဗ်လီးစ်က အလ္လာဟ်အရှင်မြတ် အထံတော်၌ ကျွန်တော်မျိုးအား ရှင်ပြန်ထကြရမည့်နေ့အထိ ခွင့်လွှတ်ထားတော်မူပါဟု လျှောက်ထားသည့်အခါ အလ္လာဟ်အရှင်မြတ်က မိမိ၏ သဗ္ဗညုတဉာဏ်တော်တွင် ယင်းသို့ ခွင့်လွှတ်ထားရန် ယခင်မဆွကပင် ဆုံးဖြတ်ထားတော်မူသည့်အလျောက် သတ်မှတ်ထားတော်မူသည့် အချိန်အထိ ခွင့်ပြုတော်မူလိုက်လေသည်။

အလ္လာဟ်အရှင်မြတ်သည် မိမိ၏ "ဟစ်က္ကမတ်" ရွှေဉာဏ်တော်အရ မိမိ၏ တန်ခိုးအာနုဘော်များကို ထင်ရှားပြတော်မူရန် ရည်ရွယ်တော်မူသည့်အခါ ဤစကြာဝဠာကြီးကို ဖန်ဆင်းတော်မူသည်။

(၁) "အရှင်မြတ်သည် ကျွန်တော်မျိုးအား လမ်းမှားစေတော်မူခဲ့သည့် အတွက်ကြောင့်" ဟု အီဗ်လီးစ်က လျှောက်ထားခဲ့သည်။ အီဗ်လီးစ်၏ အခြားမှားယွင်းသော လိမ်လည်လှည့်ဖြားမှုများကဲ့သို့ ဤသည်လည်း လိမ်လည် လှည့်ဖြားမှုတရပ်သာ ဖြစ်ချေသည်။ "တက္ကဝီနီ" ဖန်ဆင်းတော်မူခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့၏ နောက်ဆုံးအကြောင်း တရားလမ်းလည်း ဖြစ်တော်မူ၏။ ဖျားနာမှု၊ မကောင်းပြုမှု၊ အဆိပ် ... စသည့် အရာအားလုံးကို ဖန်ဆင်းတော်မူသောအရှင်လည်း ဖြစ်တော်မူ၏။ ထို့အတူ အီဗ်လီးစ်၏ လမ်းမှားခြင်း၏ နောက်ဆုံးအကြောင်းတရားလည်း ဖြစ်တော်မူ၏။ သို့ရာတွင် အီဗ်လီးစ်သည် ဤသည့်အချက်ကို ဤနေရာတွင် အလွဲလွဲအမှားမှား အဓိပ္ပာယ်ကောက်ယူသုံးထားသည်။ (ဝါ) အီဗ်လီးစ်က အလ္လာဟ်အရှင်မြတ် သည် အီဗ်လီးစ်ကို လမ်းမှားစေရန် လှုံ့ဆော်တော်မူသည်ဟူ၍၎င်း၊ သို့တည်းမဟုတ် ယင်းသို့ အီဗ်လီးစ် လမ်းမှားစေရန် အလ္လာဟ်အရှင်မြတ်ကပင် အီဗ်လီးစ်အား အတင်းအဓမ္မ ပြုလုပ်စေတော်မူသည်ဟူ၍၎င်း၊ ဆိုလိုသည်။ ဤသို့ အဓိပ္ပာယ်ကောက်ယူသုံးနှုန်းခြင်းမှာ လုံးဝမှားသည်။ (မာဂျိဒီ)

(၂) အလ္လာဟ်အရှင်မြတ်၏ တမန်တော်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံမှ (ဤသို့) တဆင့်ကြားသိရသည်မှာ ဧကန်မုချ ရှိုင်တွာန်သည် အာဒမ်၏သားအား (ဖျက်ဆီးရန်) များစွာသော လမ်းများပေါ်တွင် ပုန်းလျှိုးချောင်းမြောင်း၍ ထိုင်သည်။ ရှိုင်တွာန်သည် အာဒမ်၏သားအား ဖျက်ဆီးရန် အစ္စလာမ်၏လမ်းပေါ်တွင် ထိုင်၍ (အာဒမ်၏သားအား) အသင်သည် မိမိဘိုး၊ ဘွား၊ ဘေး၊ ဘီများ၏ သာသနာကို စွန့်လွှတ်နေသည်ဟု ပြော၏။ ထိုအခါ အာဒမ်၏သားသည် ထိုရှိုင်တွာန်အား သွေဖည်၍ အလ္လာဟ်အရှင်မြတ်၏ အမိန့်ကို နာခံလေသည်။ ထို့နောက် ရှိုင်တွာန်သည် အာဒမ်၏သားအား ဖျက်ဆီးရန် "ဟစ်ဂျ်ရတ်" ၏လမ်း ➤➤

ثُمَّ لَآتِيَنَّهُم مِّن بَيْنِ أَيْدِيهِمْ وَمِنْ خَلْفِهِمْ وَعَنْ أَيْمَانِهِمْ وَعَن شَمَائِلِهِمْ ۖ وَلَا تَجِدُ أَكْثَرَهُمْ شَاكِرِينَ ﴿١٧﴾

**၁၇။** ထို့နောက် ကျွန်တော်မျိုးသည် ထိုသူတို့ထံ၊ ထိုသူတို့၏ ရှေ့မှငင်း၊ ထိုသူတို့၏ နောက်မှငင်း၊ ထိုသူတို့၏ လက်ယာဘက်မှငင်း၊ ထိုသူတို့၏ လက်ဝဲဘက်မှငင်း၊ *(လေးဘက်လေးတန် အဘက်ဘက်မှ) ဝင်ရောက်ပါမည်။* [၁] ငင်းပြင် အရှင်မြတ်သည် ထိုသူတို့အနက် အများစုကို ကျေးဇူးသိတတ်သောသူများအဖြစ် တွေ့ရှိတော်မူမည် မဟုတ်ပါ။

قَالَ اخْرُجْ مِنْهَا مَذْءُومًا مَّدْحُورًا ۖ لَّمَن تَبِعَكَ مِنْهُمْ لَأَمْلَأَنَّ جَهَنَّمَ مِنكُمْ أَجْمَعِينَ ﴿١٨﴾

**၁၈။** (ထိုအခါ) ထိုအရှင်မြတ်က (ဤသို့)မိန့်ကြားတော်မူခဲ့လေသည်။ (ဟယ်–အီဗ်လီးစ်) အသင်သည် ထို(ဂျန္နတ်အမတသုခဘုံ)မှ *ဂုဏ်သရေသိမ်ဖျင်းစွာနှင်ထုတ်ခြင်းခံရသူအဖြစ် ထွက်သွားလော့။* [၂] အမှန်စင်စစ်၊ ငင်းတို့အနက် မည်သူမဆို အသင်၏နောက်ကိုလိုက်ခဲ့ပါမူ ငါအရှင်မြတ်သည် ဂျဟန္နမ်ငရဲဘုံကို မလွဲဧကန် အသင်တို့အားလုံးဖြင့် ဖြည့်တော်မူအံ့။

---

➤➤ ပေါ်တွင်ထိုင်၍ အာဒမ်၏သားအား အသင်သည် မိမိ၏တိုင်းပြည်ကို စွန့်လွှတ်နေသည်။ အသင်သည် ခရီးသည် အာဂန္တုဖြစ်လိမ့်မည်ဟု ပြော၏။ ထိုအခါ အာဒမ်၏သားသည် ရှိုင်တွာန်အား သွေဖည်၍ "ဟဂျ်ရတ်" ပြုလုပ်လေသည်။ ထို့နောက် ရှိုင်တွာန်သည် အာဒမ်၏သားအား ဖျက်ဆီးရန် "ဂျီဟာဒ်" ၏ လမ်းပေါ်တွင် ထိုင်၍ အာဒမ်၏သားအား အသင်သည် စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်နေရာ အသင် အသတ်ခံရလိမ့်မည်။ အသင်၏ ဥစ္စာပစ္စည်းများသည် ခွဲဝေယူခြင်းခံရမည်။ အသင်၏ဇနီးသည်လည်း နောက်အိမ်ထောင် ပြုလိမ့်မည်ဟု ပြော၏။ ထိုအခါ အာဒမ်၏သားသည် ထိုရှိုင်တွာန်အား သွေဖည်၍ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်လေသည်။

(၁) ဤမုက္ကပါဌ်တော်တွင်ပါရှိသည့် အရပ်လေးမျက်နှာ၏ အဖွင့်နှင့်စပ်လျဉ်း၍ သာဝကကြီး အီဗ်နုအဗ္ဗာစ်သခင်က ဤသို့ဖွင့်ဆိုထားသည် "ကျွန်ုပ်သည် ထိုသူတို့ထံသို့ ထိုသူတို့၏ ရှေ့မှလာမည်" ဟူသည် ကျွန်ုပ်သည် ထိုသူများအား ထိုသူများ၏ နောင်တမလွန်ဘဝ အရေးတွင် ဒွိဟသံသယဖြစ်စေမည်ဟူ၏။ "ထိုသူတို့၏နောက်မှ" ဟူသည် ကျွန်ုပ်သည် ထိုသူတို့အား ထိုသူတို့၏ ပစ္စက္ခလောကီရေးတွင် နှစ်သိမ့်စေထားမည်ဟူ၏။ "ထိုသူတို့၏ လက်ယာဘက်မှ" ဟူသည် ကျွန်ုပ်သည် ထိုသူတို့အပေါ်၌ ထိုသူတို့၏ သာသနာရေးကို ရှုပ်ထွေးစေမည်ဟူ၏။ " ထိုသူတို့၏ လက်ဝဲဘက်မှ" ဟူသည် ကျွန်ုပ်သည် ထိုသူတို့အား မကောင်းမှုဒုစရိုက်များကို ပြုကျင့်ရန် တိုက်တွန်း နှိုးဆော်မည်ဟူ၏။ (အလ်မနာရ်)။

(၂) "အသင်ထိုမှထွက်လေ" ဆိုလိုသည်ကား အသင်သည် ဂျန္နတ်မှ ထွက်လေ။ သို့မဟုတ် အသင်သည် အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ ကောင်းကင်တမန်များ၏ ကဲ့ရဲ့ပြစ်တင်၊ ရှုတ်ချခြင်းခံရသူအဖြစ်၊ ဂျန္နတ်မှ အနှင်ခံရသူအဖြစ်နှင့် ထွက်လေ။ ဆိုလိုသည်ကား–အခြားမုက္ကပါဌ်တော်များတွင် ပါရှိသည့် ➤➤

وَيَادَمُ اسْكُنْ أَنْتَ وَزَوْجُكَ الْجَنَّةَ فَكُلَا مِنْ حَيْثُ شِئْتُمَا وَلَا تَقْرَبَا هَٰذِهِ الشَّجَرَةَ فَتَكُونَا مِنَ الظَّٰلِمِينَ ﴿١٩﴾

၁၉။ ၎င်းပြင် အို-အာဒမ်၊အသင်သည် မိမိကြင်ရာနှင့်တကွ ဂျန္နတ် အမတသုခဘုံ၌ နေထိုင်ပါလေ။ ထို့နောက် အသင်တို့နှစ်ဦးသည် မိမိတို့အလိုရှိရာ နေရာမှ စားသုံးကြလေကုန်။ သို့ရာတွင် ဤသစ်ပင် အနီးသို့ပင် မချဉ်းကပ်ကြကုန်လင့်။ သို့မဟုတ်လျှင် *အသင်တို့နှစ်ဦးသည်(လည်း) နစ်နာဆုံးရှုံးသူတို့တွင် အပါအဝင် ဖြစ်သွားကြလတ္တံ့*။ [၁]

فَوَسْوَسَ لَهُمَا الشَّيْطَٰنُ لِيُبْدِيَ لَهُمَا مَا وُۥرِيَ عَنْهُمَا مِنْ سَوْءَٰتِهِمَا وَقَالَ مَا نَهَىٰكُمَا رَبُّكُمَا عَنْ هَٰذِهِ الشَّجَرَةِ إِلَّآ أَنْ تَكُونَا مَلَكَيْنِ أَوْ تَكُونَا مِنَ الْخَٰلِدِينَ ﴿٢٠﴾

၂၀။ ထို့နောက် ရှိုင်တွာန်မိစ္ဆာကောင်သည် ၎င်းတို့ *(ဇနီးမောင်နှံ)နှစ်ဦး၏စိတ်တွင်း၌* [၂] ၎င်းတို့မှ *ဖုံးကွယ်လျက်ရှိသော ၎င်းတို့၏အရှက်ကို ၎င်းတို့၏ရှေ့ဝယ် ပေါ်လွင်စေရန်* [၃] အကြံပေးလေ၏။ ထို့ပြင် (ဤသို့) ပြောဆိုခဲ့၏။ (အမှန်စင်စစ်) အသင်တို့၏အရှင်သည် အသင်တို့အားအသင်တို့နှစ်ဦး ကောင်းကင်တမန်များ သော်၎င်း၊ ထာဝစဉ် အသက်ရှင်နေသူများသော်၎င်း၊ မဖြစ်နိုင်ကြရန်သာလျှင် ဤသစ်ပင်မှ တားမြစ်တော်မူခဲ့လေသည်။

---

>> အတိုင်း အီဗ်လီးစ်သည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ ကင်းဝေးခဲ့ရသည်။ အပါးတော်မှ အနှင်ခံခဲ့ရသည်ဟူ၏။

(၁) ကျွန်ုပ်ထံတွင် (ဤမုကဒ္ဒပါဌ်တော်၌ ပါရှိသော) ( فَتَكُونَا مِنَ الظَّٰلِمِينَ )၏ အဓိပ္ပာယ်ကို "ပြီးနောက် အသင်တို့ (၂-ဦး)သည် ဆုံးရှုံးနစ်နာသူများတွင် အပါအဝင် ဖြစ်သွားကြလိမ့်မည်" ဟူ၍ ပြန်ဆိုပါက ပို၍ သင့်တော်ပေမည်။ အဘယ့်ကြောင့်ဆိုသော် "ဇုလ်မ်" ဟူသောပုဒ်သည် ဆုံးရှုံးခြင်း၊ လျော့နည်းခြင်း၊ ယုတ်လျော့ခြင်း၏အနက်၌လာရှိသည်။ ဥပမာ-ကုရ်အာန်ကျမ်းမြတ် (၁၈း၃၃)တွင်ပါရှိသော ( وَلَمْ تَظْلِمْ مِّنْهُ شَيْئًا ) ဟူသော မုကဒ္ဒပါဌ်တော်၌ ယင်းပုဒ်ကို ဤအနက်၌ပင် သုံးထားတော်မူသည်။

(၂) "ရှိုင်တွာန်သည် ဖခင်ကြီးအာဒမ်နှင့် မိခင်ကြီးဟောင်ဝါတို့၏ စိတ်နှလုံးတွင် မကောင်းသော အကြံအစည်၊ အတွေးအခေါ်ကို ဖြစ်ပေါ်စေခဲ့၏။" ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် အမိန့်တော်ကိုသွေဖည်ရန် အကြံအစည်ကို ဖခင်ကြီးအာဒမ်နှင့် မိခင်ကြီးဟောင်ဝါတို့၏ စိတ်တွင်းမှ ဖြစ်ပေါ်လာခြင်းမဟုတ်ကြောင်း၊ အပြင်မှ ထည့်သွင်းပေးခြင်းသာဖြစ်ကြောင်း၊ ယင်းသို့ထည့်သွင်းပေးသူမှာ ရှိုင်တွာန်ပင်ဖြစ်ကြောင်း၊ ကောင်းစွာ သိနိုင်ပေသည်။

"ဝါစ်ဝစဟ်" မကောင်းသောအကြံအစည် ဖြစ်ပေါ်စေခြင်းသည် စိတ်နှင့်သက်ဆိုင်သောကိစ္စ >>

(တနည်း)

ထို့နောက် ရှိုင်တွာန်သည် ထိုနှစ်ဦးတို့ထံမှ ဖုံးကွယ်လျက်ရှိသော ထိုနှစ်ဦးတို့၏အရှက်ကို ပေါ်လွင်သွားစေရန် မကောင်းသောအကြံအစည်ကို ထိုနှစ်ဦးတို့၏စိတ်တွင် ဖြစ်ပေါ်စေ၏။ ၎င်းနောက် ထို ရှိုင်တွာန်က အသင်တို့နှစ်ဦးအား အသင်တို့နှစ်ဦး၏အရှင်က ဤသစ်ပင်မှ တားမြစ်တော်မူခြင်းမှာ အသင်တို့နှစ်ဦး ကောင်းကင်တမန်များမဖြစ်ကြရန် သို့မဟုတ် အသင်တို့နှစ်ဦး ထာဝစဉ် အသက်ရှင်နေသူများတွင်အပါအဝင် မဖြစ်ကြရန်အတွက်သာလျှင် ဖြစ်ချေသည်ဟု ပြောဆိုလေ၏။

وَقَاسَمَهُمَآ إِنِّى لَكُمَا لَمِنَ النَّٰصِحِينَ ﴿٢١﴾

၂၁။ ၎င်းပြင် ယင်း(ရှိုင်တွာန် မိစ္ဆာကောင်သည်) ၎င်းတို့(ဇနီးမောင်နှံ) နှစ်ဦး၏ရှေ့ဝယ် "ဧကန်မလွဲ ကျွန်ုပ်သည် အသင်တို့နှစ်ဦး၏ ကောင်းရာကောင်းကြောင်းကို လိုလားသူသာလျှင် ဖြစ်ပါသည်" ဟု ကျိန်ဆိုလေ၏။ [၁]

➤➤ ဖြစ်ရကား ယင်းသို့ မကောင်းသောအကြံအစည် ဖြစ်ပေါ်စေရန်အတွက် ဝတ္ထုပစ္စည်းချင်း၊ နေရာဌာနချင်း၊ နီးကပ်ရန်မလိုပေ။ ရှိုင်တွာန်သည် ဖခင်ကြီးအာဒမ်နှင့် မိခင်ကြီးဟောင်ဝါတို့၏စိတ်တွင် မကောင်းသောအကြံအစည် ထည့်သွင်းရန်အတွက် ဖခင်ကြီးအာဒမ်နှင့်မိခင်ကြီးဟောင်ဝါ ၂-ပါးတို့နှင့် တိုက်ရိုက်တွေ့ရန်ပင်မလိုပေ။ ရှိုင်တွာန်သည် ကမ္ဘာမြေပြင်မှနေ၍လည်း မိုးကောင်းကင်ရှိ ထိုမိဘကြီး ၂-ပါးတို့၏စိတ်တွင် မကောင်းသောအကြံအစည်ကို အလွယ်တကူ ထည့်သွင်းပေးနိုင်သည်။ (အမှန်သော် ဖခင်ကြီးအာဒမ်နှင့် မိခင်ကြီးဟောင်ဝါတို့သည် မိမိတို့၏စိတ်နှလုံးတွင်ဖြစ်ပေါ်လာသည့် ထိုမကောင်းသောအကြံအစည်ကို မိမိတို့ကိုယ်တိုင်ပင် သိကောင်းမှသိကြပေမည်၊)
(၃) ရှိုင်တွာန်သည် ဖခင်ကြီးအာဒမ်နှင့် မိခင်ကြီးဟောင်ဝါတို့၏စိတ်တွင် မကောင်းသောအကြံအစည် ဖြစ်ပေါ်စေခဲ့ခြင်းမှာ ထိုမိခင်ကြီးနှင့်ဖခင်ကြီးတို့ (ရှုမြင်ခြင်း)မှ ဖုံးကွယ်လျက်ရှိသော ၎င်းတို့၏အရှက်ကို ၎င်းတို့ရှေ့မှောက်တွင် ပေါ်လွင်ထင်ရှားစေရန်ပင် ဖြစ်ပေသည်။ ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် ဖခင်ကြီးအာဒမ်နှင့်မိခင်ကြီးဟောင်ဝါတို့၏ကိုယ်ခန္ဓာသည် ထိုအချိန်အထိ လင်းရောင်ခြည်တည်းဟူသော အဝတ်တန်ဆာများဖြင့် ဖုံးအုပ်လျက်ရှိခဲ့ကြောင်း၊ ၎င်းတို့၏ ကိုယ်ခန္ဓာအဆစ်အပိုင်းများအနက် ဖုံးအုပ်ထားအပ်သောအဆစ်အပိုင်းများသည် ၎င်းတို့၏ရှုမြင်ခြင်းမှ ဖုံးကွယ်လျက်ရှိကြောင်း သိရှိနိုင်ပေသည်။ မာဂျိဒီ။ အ-၂၊ စ-၃၂၇၊ အအ-၂၃။
(၁) ရှိုင်တွာန်က ဖခင်ကြီးအာဒမ်နှင့် မိခင်ကြီးဟောင်ဝါတို့အား "မုချဧကန် ကျွန်ုပ်သည် အသင်တို့ ➤➤

فَدَلّٰىهُمَا بِغُرُوْرٍۚ فَلَمَّا ذَاقَا الشَّجَرَةَ بَدَتْ لَهُمَا سَوْاٰتُهُمَا وَطَفِقَا يَخْصِفٰنِ عَلَيْهِمَا مِنْ وَّرَقِ الْجَنَّةِؕ وَنَادٰىهُمَا رَبُّهُمَآ اَلَمْ اَنْهَكُمَا عَنْ تِلْكُمَا الشَّجَرَةِ وَاَقُلْ لَّكُمَآ اِنَّ الشَّيْطٰنَ لَكُمَا عَدُوٌّ مُّبِيْنٌ ﴿٢٢﴾

၂၂။ အဆုံးတွင် ထိုရှိုင်တွာန်မိစ္ဆာကောင်သည် ၎င်းတို့နှစ်ဦးအား ပရိယာယ်မာယာဖြင့် (တဖြည်းဖြည်း) ဆွဲဆောင်လေသည်။ ထို့နောက် ထို(ဇနီးမောင်နှံ) နှစ်ဦးတို့သည် ထိုသစ်ပင်(၏အသီးအနှံ)ကို မြည်းစမ်းကြလေသောအခါ ၎င်းတို့၏ဖုံးကွယ်လျှက်ရှိသော အရှက်သည် ၎င်းတို့၏ရှေ့ဝယ် ပေါ်၍သွားလေတော့၏။ ထို့နောက် ၎င်းတို့နှစ်ဦးသည် မိမိတို့ကိုယ်ကို ဂျန္နတ်အမတသုခဘုံမှ သစ်ရွက်(များ)ဖြင့် *စတင်(တွယ်စပ်) ဖုံးအုပ်ခဲ့ကြလေသည်။* ၁

ထိုအခါ ထိုသူတို့၏အရှင်မြတ်သည် ထိုသူတို့အား (ဤသို့) မိန့်ကြားတော်မူခဲ့လေသည်။ "ငါအရှင်မြတ်သည် အသင်တို့အား ထိုသစ်ပင်မှတားမြစ်တော်မူခဲ့သည် မဟုတ်လော။ ထိုနည်းတူစွာ ငါအရှင်မြတ်သည် အသင်တို့နှစ်ဦးစလုံးကို "ကေန်စင်စစ်ရှိုင်တွာန် မိစ္ဆာကောင်သည် အသင်တို့နှစ်ဦး၏ ထင်ရှားသော ရန်သူပင်ဖြစ်သည်" ဟု မိန့်ကြားတော်မူခဲ့သည် မဟုတ်လော။

---

➤➤ နှစ်ဦး၏ ကောင်းကျိုးချမ်းသာကို လိုလားသူဖြစ်ပါသည်"ဟု အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ ကျိန်ဆိုကာ ကောင်းစွာ အယုံသွင်းခဲ့၏။ ဤသည် ရှိုင်တွာန်၏ "ဝါစ်ဝစဟ်" ၏ အစိတ်အပိုင်းတခုပင် ဖြစ်ချေသည်။

ဖခင်ကြီးအာဒမ်နှင့် မိခင်ကြီးဟောင်ဝါတို့သည် ရိုးသားကြ၏။ စိတ်စေတနာ ဖြူစင်၏။ သူတပါးကိုလည်း မိမိကဲ့သို့ပင် ရိုးသားသည်ဟူ၍ ယူဆကြ၏။ တဦးတယောက်သောသူသည် အလ္လာဟ်အရှင်မြတ်အား တိုင်တည်ပြီး မုသားပြောဆိုလိမ့်မည် ဟူ၍ပင် မတွေးထင်ခဲ့ကြပေ။ မာဂျိဒီ။

(၁) ဖခင်ကြီးအာဒမ်နှင့် မိခင်ကြီးဟောင်ဝါတို့သည် ရှိုင်တွာန်၏ ဖြားယောင်းမှုကို ယုံစား၍ တားမြစ်ထားသော အပင်၏အသီးကို စားမိကြသောအခါ ၎င်းတို့၏ဖုံးကွယ်လျှက်ရှိသော အရှက်များသည် ပေါ်သွား၏။ ထိုအခါ ဖခင်ကြီးအာဒမ်နှင့် မိခင်ကြီးဟောင်ဝါတို့သည် အဝတ်အချည်းစည်းဖြစ်ရသည့်အတွက် မိမိတို့၏ကိုယ်ကို ဂျန္နတ်မှ သစ်ရွက်များဖြင့် တွယ်စပ် ဖုံးအုပ်ကြလေသည်။ ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် ဝတ်လစ်စားလစ်မနေခြင်း၊ ဖုံးအုပ်ထားအပ်သော အဆစ်အပိုင်းများကို ဖုံးအုပ်ထားခြင်း၊ ရှက်ကြောက်ခြင်း၊ ဟီရိသြတ္တပ္ပတရားထားရှိခြင်းများသည် လူ့သဘာဝမှပင် ဖြစ်ကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။

قَالَا رَبَّنَا ظَلَمْنَآ أَنفُسَنَا وَإِن لَّمْ تَغْفِرْ لَنَا وَتَرْحَمْنَا لَنَكُونَنَّ مِنَ الْخَٰسِرِينَ ﴿٢٣﴾

၂၃။ ထို(ဇနီးမောင်နှံ)နှစ်ဦးတို့က "အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် (ဧကန်စင်စစ်) ကျွန်တော်မျိုးတို့သည် မိမိတို့ကိုယ်ကို မိမိတို့ပင် နှိပ်စက် ညှင်းပန်းမိခဲ့ကြပါပြီ။ နစ်နာဆုံးရှုံးအောင် ပြုလုပ်မိကြပါပြီ။ ထို့ပြင် အကယ်၍သာ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား လွတ်ငြိမ်းချမ်းသာခွင့်ပေးသနားတော်မူခြင်းမပြုပါလျှင်၊ ၎င်းပြင် ကျွန်တော်မျိုးတို့အပေါ်ဝယ် သနားညှာတာတော်မူခြင်း မပြုပါလျှင် ဧကန်မလွဲ ကျွန်တော်မျိုးတို့သည် နစ်နာဆုံးရှုံးသူတို့တွင် အပါအဝင် ဖြစ်ကြရပါတော့အံ့" ဟု *လျှောက်ထား အသနားခံကြလေသည်။* [၁]

قَالَ اهْبِطُوا بَعْضُكُمْ لِبَعْضٍ عَدُوٌّ ۖ وَلَكُمْ فِي الْأَرْضِ مُسْتَقَرٌّ وَمَتَاعٌ إِلَىٰ حِينٍ ﴿٢٤﴾

၂၄။ (ထိုအခါ အလ္လာဟ်)အရှင်မြတ်က (ဤသို့) မိန့်ကြားတော်မူလေ၏။ အသင်တို့သည် (ဤဂျန္နတ်အမတသုခဘုံမှ) ဆင်းကြလေကုန်။ အသင်တို့အနက် အချို့သည် အချို့၏ရန်သူပင် ဖြစ်ကြပေလိမ့်မည်။ ၎င်းပြင် အသင်တို့အဖို့ ပထဝီမြေ၌ (ငါအရှင်မြတ်) သတ်မှတ်တော်မူအပ်သော သက်တမ်းတိုင်အောင် နေရာထိုင်ခင်းနှင့် အကျိုးခံစားခွင့်တို့သည် ရှိပေသတည်း။

قَالَ فِيهَا تَحْيَوْنَ وَفِيهَا تَمُوتُونَ وَمِنْهَا تُخْرَجُونَ ﴿٢٥﴾

၂၅။ ထိုအရှင်မြတ်က "အသင်တို့သည် ထိုပထဝီမြေ၌ အသက်ထင်ရှား နေထိုင်ကြရမည်။ ၎င်းပြင် ပထဝီမြေ၌ပင် သေကြရမည်။ ၎င်းပြင် (ရှင်ပြန်ထမြောက်မည့်နေ့တွင်လည်း) ထိုပထဝီမြေမှပင် ထွက်ကြရမည်ဟု မိန့်ကြားတော်မူခဲ့လေသတည်း။

---

(၁) လူသားတို့၏အဖ အာဒမ်နှင့် လူသားတို့၏အမိ ဟောင်ဝါတို့၏ ဤဆုမွန်၌ ဆုမွန်တောင်းဆိုရာတွင် ထားရှိအပ်သော ရိုသေကိုင်းရှိုင်းမှု၊ ဆုပန်ကြားပုံ၊ ပန်ကြားနည်းနိသျည်းများ၊ လူသားအားလုံးအတွက် ကိယာမတ်အထိ လိုက်နာအပ်သော နည်းနိဿယပင်ဖြစ်ချေသည်။ ကြည့်-မာရိဒီ။ အ-၂၊ စ-၃၂၇၊ အအ-၂၉။

يٰبَنِيْٓ اٰدَمَ قَدْ اَنْزَلْنَا عَلَيْكُمْ لِبَاسًا يُّوَارِيْ سَوْاٰتِكُمْ وَرِيْشًا ۗ وَلِبَاسُ التَّقْوٰى ذٰلِكَ خَيْرٌ ۗ ذٰلِكَ مِنْ اٰيٰتِ اللّٰهِ لَعَلَّهُمْ يَذَّكَّرُوْنَ ﴿٢٦﴾

၂၆။ အို-အာဒမ်၏ သားသမီးအပေါင်းတို့၊ ငါ အရှင်မြတ်သည် အသင်တို့၏အရှက်ကို ဖုံးအုပ်သည့် အဝတ်အစားကိုငှင်း (အသင်တို့ လှပအောင်ဆင်ယင်ရန်) ဝတ်စားတန်ဆာကိုငှင်း၊ ဖန်ဆင်းတော်မူခဲ့လေသည်။ [၁] သို့ရာတွင် ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်ခြင်း၊ ဟီရိဩတ္တပ္ပတရားတည်းဟူသော ဝတ်စားတန်ဆာသည်ကား *အမြင့်မြတ်ဆုံးပင် ဖြစ်ပေသည်။* [၂] ဤကားငှင်းတို့လေ့လာမှတ်သား စဉ်းစားဆင်ခြင်နိုင်ကြရန် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာ တရပ်ပင်တည်း။

(၁) "အင်န်ဇာလ်" ဟူသောပုဒ်၏လုံးကောက်အဓိပ္ပာယ်မှာ "ချပေးခြင်း" ဟူ၍ဖြစ်သည်။ သို့ရာတွင် ဤနေရာ၌ ဖန်ဆင်းခြင်းအနက်၌ ဖြစ်ချေသည်။ ဤနေရာတွင် ဤပုဒ်ကို သုံးနှုန်းထားတော်မူခြင်းမှာ ကောင်းချီးမင်္ဂလာများသည် ကောင်းကင်မှပင် ကျရောက်သည်ကို တနည်းအားဖြင့် ညွှန်ပြခြင်းလည်း ဖြစ်ပေသည်။

"အင်န်ဇာလ်" "ချပေးခြင်း" ဟူသည် မူလဓာတ်ပစ္စည်း၊ အကြောင်းတရားများ ဖန်တီးခြင်း၊ ထို ဓာတ်ပစ္စည်းများကို အဆင်သင့် ပြုလုပ်နိုင်ခြင်း စီမံခန့်ခွဲပေးခြင်း ကို ဆိုသည်။ "အင်န်ဇာလ်" (ချပေးခြင်း) ဟူသော ပုဒ်သည် ယေဘုယျအားဖြင့် တစုံတရာကို အထက်မှ အောက်သို့ ချပေးရာတွင် အသုံးဖြစ်ချေသည်။ သို့ရာတွင် ယင်းပုဒ်ကိုပင် များစွာသော အခါ၌ နေရာဌာနအားဖြင့် အထက်အောက် ဟူသော သဘောကို မယူဆပဲ ရာထူးဂုဏ်အင်ဒြပ်အားဖြင့် မြင့်သူက နိမ့်သူများအား တစုံတရာ ပေးရာတွင်လည်း အသုံးဖြစ်ချေသည်။ ဤသည့် သဘောအတိုင်း ကုရ်အာန်ကျမ်းမြတ် (၃၉း၆။ ၅၇း၂၅)တွင် သုံးနှုန်းထားတော်မူသည်ကို တွေ့ရှိရပေသည်။

အလ္လာဟ်အရှင်မြတ်သည် အဝတ်အစားများကို ဖန်ဆင်းပေးတော်မူခြင်းမှာ အရှက်ဖုံးအုပ်ရန်နှင့် လှပအောင် ပြုပြင်၊ ဆင်ယင်၊ ဝတ်စားရန်အတွက်ပင် ဖြစ်ပေသည်။ ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် "ဟိဂျာဗ်" အရှက်ဖုံးအုပ်ခြင်း၊ အဝတ်အစားဝတ်ဆင်ခြင်းများသည် "ရှရီအတ်"၏ အဓိကလိုလားချက်များတွင် အပါအဝင်ဖြစ်ကြောင်း ကောင်းစွာ သိနိုင်ပေသည်။ ဝတ်လစ်စားလစ်နေခြင်း၊ တဝက်တပျက်ကို ဖုံးအုပ်ခြင်း၊ (ဖုံးအုပ်ရမည့်အဆစ်အပိုင်းများကို ဖော်ထားခြင်း၊ အချို့တဝက်ကိုဖုံးအုပ်၍ အချို့တဝက်ကိုဖော်ထားခြင်း) များသည် မည်သည့်နိုင်ငံတွင် ထွန်းကားသည်ဖြစ်စေ၊ မည်သည့်လူမျိုးမည်သည့်အုပ်စုက လက်ခံသည်ဖြစ်စေ (အစ္စလာမ်နှင့် ဆန့်ကျင်သည်) ရှိုင်တွာန်၏ လမ်းစဉ်သာ ဖြစ်ချေသည်။

(၂) "တက္ကဝါ"တည်းဟူသော အဝတ်၊ ဝါ-အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခြင်းတည်း ဟူသောအဝတ်၊ ဝါ-သာသနာတော်ကို ရိုသေကိုင်းရှိုင်းခြင်းတည်းဟူသော အဝတ်သည် အရှက်ဖုံးအုပ်ရန်၊ လှပရန်အတွက် ဝတ်ဆင်သော၊ တွေ့မြင်နေရသော အဝတ်ထက်ပို၍ ကောင်း၏။ ပိုမိုအရေးကြီး၏။ မာဂျိဒီ။ ➤➤

يَٰبَنِيٓ ءَادَمَ لَا يَفۡتِنَنَّكُمُ ٱلشَّيۡطَٰنُ كَمَآ أَخۡرَجَ أَبَوَيۡكُم مِّنَ ٱلۡجَنَّةِ يَنزِعُ عَنۡهُمَا لِبَاسَهُمَا لِيُرِيَهُمَا سَوۡءَٰتِهِمَآۚ إِنَّهُۥ يَرَىٰكُمۡ هُوَ وَقَبِيلُهُۥ مِنۡ حَيۡثُ لَا تَرَوۡنَهُمۡۗ إِنَّا جَعَلۡنَا ٱلشَّيَٰطِينَ أَوۡلِيَآءَ لِلَّذِينَ لَا يُؤۡمِنُونَ ٢٧

၂၇။ အို–အာဒမ်၏သားသမီးအပေါင်းတို့၊ ရှိုင်တွာန် မိစ္ဆာကောင်သည် အသင်တို့၏မိဘနှစ်ပါး (အာဒမ် နှင့်ဟောင်ဝါတို့)အား ၎င်းတို့ နှစ်ဦးသည် ၎င်းတို့ အရှက်ကို မြင်နိုင်စေရန် ၎င်းတို့(၏ ခန္ဓာကိုယ်)မှ ၎င်းတို့၏ အဝတ်အစားများကို ချွတ်စေလျက် *ဂျန္နတ်အမတသုခဘုံမှထွက်စေဘိသကဲ့သို့* [၁] (ယင်း ရှိုင်တွာန်မိစ္ဆာကောင်သည်) အသင်တို့အားလည်း အလွဲ သွေးဆောင်ဖြားယောင်းနိုင်ခွင့် မရှိစေရ။

စင်စစ်သော်ကား ယင်းရှိုင်တွာန်မိစ္ဆာကောင် ကိုယ်တိုင်သည်၎င်း၊ ယင်း၏မျိုးနွယ်တို့သည်၎င်း၊ အသင်တို့အား၊ အသင်တို့ ၎င်းတို့ကို *မမြင်နိုင်သော နည်းဖြင့် မြင်ကြကုန်၏*။ [၂] ဧကန်မလွဲ ငါအရှင်မြတ် သည် ရှိုင်တွာန်မိစ္ဆာကောင်တို့ကို အီမာန် သက်ဝင် ယုံကြည်မှု မရှိကြသောသူတို့၏ *အဆွေခင်ပွန်းများ ပြုလုပ်တော်မူခဲ့လေသတည်း*။ [၃]

---

➤➤ လူသားတို့၏ကိုယ်ခန္ဓာတွင် ဖုံးအုပ်ထားအပ်သော အဆစ်အပိုင်းများရှိ၏။ ထိုအဆစ်အပိုင်းများကို ကိုယ်အထည်ထင်ရှားရှိသော အဝတ်အစားများက ဖုံးအုပ်၍ထား၏။ လုပစေ၏။ ၎င်းပြင် လူသားတို့၏ ကိုယ်ခန္ဓာတွင် ဖုံးအုပ်ထားအပ်သော အဆစ်အပိုင်းများရှိသကဲ့သို့ လူသားတို့၏ အတွင်းစိတ်ဓာတ်တွင် ဖုံးအုပ်ထား အပ်သောချို့တဲ့မှုများ၊ အားနည်းမှုများ၊ နုံနဲ့မှုများလည်းရှိ၏။ လူသားတို့တွင် ချို့တဲ့မှုများ၊ နုံနဲ့မှုများကို ထုတ်ဖော်နိုင်သည့် စွမ်းရည်သတ္တိလည်းရှိ၏။ သို့ရာတွင် ထိုချို့တဲ့မှုများကို ဖုံးအုပ်ရန်အတွက် အလ္လာဟ်အရှင်မြတ် သည် စိတ်ဝိညာဉ်နှင့်ဆိုင်သော ကိုယ်အထည်ထင်ရှားမရှိသော၊ နာမ်ဝိညာဉ်နှင့်ဆိုင်သော အဝတ်ကို ဖန်ဆင်း၍ ပေးထားတော်မူသည်။ နာမ်ဝိညာဉ်နှင့်ဆိုင်သော ထိုအဝတ်ကိုပင် ကုရ်အာန်ကျမ်းမြတ်တွင် 'တက္ကဝါ' ၏အဝတ်ဟူ၍ မိန့်ဆိုထားတော်မူသည်။ တက္ကဝါ၏အဝတ်သည် အတွင်းချို့တဲ့မှုများ၊ နုံနဲ့မှုများ၊ အားနည်းမှုများကို ဖုံးဖိထား၏။ အတွင်းသဘောကိုလုပစေ၏။ စဉ်းစားဆင်ခြင်လျှင် အပြင်အဝတ်သည် ဖော်ပြပါအတွင်းအဝတ်ဝတ်ဆင်ရန်အတွက် တရားတော်အရ အထူးလိုလားအပ်ကြောင်း ကောင်းစွာသိရှိနိုင်သည်။

(၁) ရှိုင်တွာန်သည် ဖခင်ကြီးအာဒမ်နှင့် မိခင်ကြီးဟောင်ဝါတို့အား ဂျန္နတ်မှ ထုတ်ခဲ့သည်ဟူ၍၎င်း၊ ၎င်းတို့၏ အဝတ်အစားများကို ချွတ်ခဲ့သည်ဟူ၍၎င်း၊ မိန့်ဆိုထားတော်မူခြင်းမှာ ဖခင်ကြီးအာဒမ်နှင့် မိခင်ကြီးဟောင်ဝါတို့တွင် ယင်းသို့ဖြစ်ရခြင်းမှာ ရှိုင်တွာန်သည် အကြောင်းတရား ဖြစ်ခဲ့ခြင်းကြောင့် ဖြစ်ပေသည်။ သို့ဖြစ်ပေရာ ဖခင်ကြီးအာဒမ် နှင့် မိခင်ကြီးဟောင်ဝါတို့၏ သားသမီးများသည် ရှိုင်တွာန်၏ သွေးဆောင်ဖြားယောင်းမှုများမှ လွတ်ကင်းနိုင်ကြရန် သတိဝီရိယကြီးစွာဖြင့် နေထိုင်ကြရပေမည်။

⑰ ရန်သူတဦးသည် ကျွန်ုပ်တို့ကို မြင်၏။ ကျွန်ုပ်တို့သည် ထိုရန်သူကို မမြင်ကြချေ။ သို့ဖြစ်လျှင် ထိုသို့သော ရန်သူ၏ တိုက်ခိုက်ဖျက်ဆီးမှုသည် ပိုမို၍ ပြင်းထန်ပေမည်၊ စိုးရိမ်ဖွယ်ရာလည်း ဖြစ်ပေမည်။ ခုခံကာကွယ်ရန်လည်း ခဲယဉ်းပေမည်။ ထို့အတွက်ကြောင့်ပင် လူသားတို့သည် ထိုသို့သော ရန်သူ၏ဘေးရန်မှ လွတ်ကင်းနိုင်ရန်အတွက် သတိဝိရိယကြီးစွာဖြင့် နေထိုင်ကြရပေမည်။ကျွန်ုပ်တို့သည် ထိုသို့သောရန်သူကို ကာကွယ်နိုင်ရန်အတွက် အကြင်အရှင်အား မှီခိုအားထားကြရပေမည်။ ထိုအရှင်သည် ထိုရန်သူ(နှင့် အရာခပ်သိမ်းကုန်)ကို မြင်တော်မူ၏။ ထိုရန်သူ(နှင့် အရာခပ်သိမ်းကုန်တို့)သည်ကား ထိုအရှင်မြတ်အား မမြင်နိုင်ကြပေ။ ထိုအရှင်ကား- တဆူတည်းဖြစ်တော်မူသော တန်ခိုးအနန္တနှင့် ပြည့်စုံတော်မူသော အလ္လာဟ် အရှင်မြတ်ပင် ဖြစ်တော်မူသည်။ အဆိုပါ ဂုဏ်တော်၏အကြောင်းကို ကုရ်အာန်ကျမ်းမြတ် (၆:၁၀၄)တွင် မိန့်ဆိုထားတော်မူသည်။

ရှိုင်တွာန်သည် လူသားတို့ကိုမြင်၏။ လူသားတို့သည် ရှိုင်တွာန်ကို မမြင်ကြချေ။ ဤသည် ယေဘုယျအားဖြင့် ဖြစ်လေ့ဖြစ်ထရှိသည်ကို ရည်ညွှန်းမိန့်ဆိုထားတော်မူခြင်းဖြစ်သည်။ ထာဝရ အမြဲတစေ ဖြစ်သည် မဟုတ်ချေ။ ဆိုလိုသည်ကား အများအားဖြင့် ဤသို့ဖြစ်သည်ဟူ၏။ လူသားတို့အနက် မည်သူ တဦးတယောက်မျှ မည်သည့်အချိန်တွင်မျှ ရှိုင်တွာန်ကို အလျင်းမမြင်နိုင်ဟူ၍ကား မဆိုလိုပေ။ ဤမုဗာရက်ပါဌ်တော်ကို အကြောင်းပြု၍ လူသားတို့သည် ဂျင်န်များကို အလျင်း မမြင်နိုင်ဟူ၍ အချို့ကဆိုခြင်းမှာ အတွေးခေါင်ခြင်းသာလျှင် ဖြစ်ပေသည်။

"လူသားတို့က ဂျင်န်များကို မြင်ခြင်းသည် ယေဘုယျ အားဖြင့် ဖြစ်လေ့ဖြစ်ထ ရှိသော အလေ့အထ နှင့်ကား ဆန့်ကျင်၏။ သို့ရာတွင် အလျင်း မမြင်နိုင်ဟူ၍ လုံး၀ ငြင်းဆန် ထားသည်လည်း မဟုတ်" ဟု ထာနဝီသခင်က ဖွင့်ဆို ရေးသားထားသည်။ အဘယ့်ကြောင့်ဆိုသော် အချို့ အချိန်အခါများတွင် နဗီတမန်တော်များ၊ နဗီတမန်တော် မဟုတ်သူများနှင့် သာမန်ပုဂ္ဂိုလ်များသည်ပင် ဂျင်န်များကို မြင်ဘူးခဲ့ကြသည့် အကြောင်း ကျမ်းစာကြီးငယ် များတွင် တွေ့ရှိရပေသည်။ ထိုသို့မြင်ခြင်းမှာလည်း ဤ မုဗာရက်ပါဌ်တော်နှင့် မည်သို့မျှ မဆန့်ကျင်ပေ။

⑱ အီမာန် ယုံကြည်မှု မရှိသော ကာဖိရ် မိစ္ဆာဒိဋ္ဌိတို့သည် အီမာန် မရှိသည့် အတွက်ကြောင့် ၎င်းတို့ ကိုယ်တိုင်ပင် ရှိုင်တွာန်များနှင့် အဆွေခင်ပွန်း ဖြစ်မှုကို ရွေးချယ်ကြ၏။ နစ်သက် လိုလားကြ၏။ ကြည့်- ကုရ်အာန် (၇:၃၀)။ အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့ ရွေးချယ်မှု၊ နစ်သက်မှုတွင် အနှောင့်အယှက် ပြုတော်မမူ၊ ၎င်းတို့ အဆွေခင်ပွန်း ဖွဲ့လိုသူကိုပင် ၎င်းတို့၏ အဆွေခင်ပွန်း အဖြစ် ပြုလုပ်၍ ပေးထားတော် မူခြင်း ဖြစ်ပေသည်။

"အလ္လာဟ်အရှင်မြတ်သည် ရှိုင်တွာန်များကို "အီမာန်" မရှိသူတို့၏ အဆွေခင်ပွန်းအဖြစ်ဖြင့် ခွင့်ပြုထားတော်မူသည်။ အကယ်၍ "အီမာန်" ယုံကြည်မှု အလျင်းမရှိလျှင် ရှိုင်တွာန်များနှင့် အဆွေခင်ပွန်းဖြစ်မှု သည် အပြည့်အစုံ ဖြစ်ရှိပေမည်။ ရှိုင်တွာန်များသည် အီမာန်အလျင်းမရှိသောသူများအား သွေးဆောင်ဖြားယောင်း ရာတွင်လည်း စွမ်းလွန်းတမံ ပြုလုပ်နိုင်ကြပေသည်။ အကယ်၍ အီမန်တွင် လျော့နည်းမှု၊ ချို့တဲ့မှုရှိလျှင် ရှိုင်တွာန်နှင့် အဆွေခင်ပွန်းဖြစ်မှုတွင်လည်း လျော့နည်းမှု၊ ချို့တဲ့မှုရှိပေမည်။ ရှိုင်တွာန်သည်လည်း ထိုသို့ အီမာန်လျော့နည်းပါးသော သူများအား သွေးဆောင်ဖျားယောင်းရာတွင် စွမ်းအားနည်းပါး ချို့တဲ့၍ သွားပေမည်။ အီမာန်ပြည့်စုံသော မုအ်မင်န်များကိုမူကား ရှိုင်တွာန်သည်အနည်းငယ်စိုးစဉ်းမျှပင် သွေးဆောင်ဖြားယောင်းနိုင်သည် မရှိချေ။ ဤအကြောင်း ကုရ်အာန်ကျမ်းမြတ်(၁၅:၄၀။ ၁၆:၉၉)တွင် မိန့်ဆိုထားတော်မူသည်။"

ကြည့် - တာနဝီ။ အ-၄။ စ-၁၀။

(တနည်း)

အို-အာဒမ်၏သားသမီးအပေါင်းတို့၊ ရှိုင်တွာန်သည် အသင်တို့၏မိဘနှစ်ပါးတို့အား ၎င်းတို့၏အရှက်ကို ၎င်းတို့အားပြသရန်အတွက် ၎င်းတို့ထံမှ ၎င်းတို့၏ဝတ်စားတန်ဆာကိုချွတ်ကာ ဂျန္နတ်မှထုတ်ခဲ့သကဲ့သို့ အသင်တို့အား သွေးဆောင်ဖြားယောင်းခွင့် မရရှိစေနှင့်။

ဧကန်မုချ ရှိုင်တွာန်နှင့် ၎င်း၏အုပ်စုသည် အသင်တို့အား ၎င်းတို့ကို အသင်တို့မမြင်နိုင်ကြသောနည်းဖြင့်မြင်ကြ၏။ ဧကန်မုချ ငါအရှင်မြတ်သည်ရှိုင်တွာန်များကို အီမာန်ယုံကြည်မရှိသော သူများ၏ အဆွေခင်ပွန်းအဖြစ် ပြုလုပ်ထားတော်မူသည်။

၂၈။ ၎င်းပြင် (မယုံမကြည် သွေဖည် ငြင်းပယ်သော)သူတို့သည် စက်ဆုပ်ရွံရှာဖွယ်ရာ ကိစ္စတစုံတရာကို ပြုလုပ်ကြသည့်အခါ "ကျွန်ုပ်တို့သည် မိမိတို့ဘိုး၊ ဘေး၊ ဘီ၊ ဘင်တို့အား ဤနည်းအတိုင်း (ပြုလုပ်ကြသည်ကို) တွေ့ရှိခဲ့ကြပါသည် ဟူ၍၎င်း၊ အလ္လာဟ်အရှင်မြတ်သည်လည်း ကျွန်ုပ်တို့အား ဤအတိုင်းအမိန့်ပေးတော်မူခဲ့သည်ဟူ၍၎င်း၊" *ပြောဆိုကြကုန်၏။* ၁

وَإِذَا فَعَلُوا فَاحِشَةً قَالُوا وَجَدْنَا
عَلَيْهَا آبَاءَنَا وَاللَّهُ أَمَرَنَا بِهَا ۗ
قُلْ إِنَّ اللَّهَ لَا يَأْمُرُ بِالْفَحْشَاءِ ۖ
أَتَقُولُونَ عَلَى اللَّهِ مَا لَا
تَعْلَمُونَ ﴿٢٨﴾

---

(၁) ယခုခေတ်တွင်လည်း မိစ္ဆာဒိဋ္ဌိများ၊ လမ်းမှားသူများ၊ ပြစ်မှုဒုစရိုက်ကျူးလွန်သူများသည် ၎င်းတို့ကျူးလွန်လျက်ရှိသော ဒုစရိုက်မှုများ စက်ဆုပ်ရွံ့ရှာဖွယ်ရာများကိုပင် ယဉ်ကျေးမှုဖြစ်သည်ဟူ၍ ကာကွယ်ထောက်ခံရာတွင် "ဤသည်တို့သည် မျိုးနွယ်၏ဓလေ့ထုံးစံများ၊ တိုင်းပြည်၏အလေ့အထများဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည်လည်း ကျွန်ုပ်တို့အား ဤအခြေအနေတွင် ဤလမ်းစဉ်ပေါ်၌ပင် ရပ်တည်စေတော်မူထားသည်။ ကျွန်ုပ်တို့ ဤသို့ပြုလုပ်ခြင်းကို အလ္လာဟ်အရှင်မြတ် သဘောတူတော်မမူပါလျှင် ကျွန်ုပ်တို့သည် အသို့လျှင် ပြုနိုင်ကြအံ့နည်း" ဟု ပြောဆိုလေ့ရှိကြသည်။

အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား လွတ်လပ်မှုကို ပေးထားတော်မူသည်ကား မှန်၏။ သို့ရာတွင် ထိုလွတ်လပ်မှုကို အကြောင်းပြု၍ အလွဲလွဲ အမှားမှား ပြုလုပ်ခြင်းကို ထိုအရှင်မြတ် ➤➤

(အို–နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောဆိုပါလေ။ (အချင်းတို့) အလ္လာဟ်အရှင်မြတ်သည် စက်ဆုပ်ဖွယ်ရာကိစ္စများကို (ပြုလုပ်ရန်) အလျှင်းအမိန့်ပေးတော်မမူချေ။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အပေါ်၌ မသိနားမလည်သောကိစ္စများကို လီဆယ်ပြောဆိုကြသလော။

قُلْ أَمَرَ رَبِّي بِالْقِسْطِ ۖ وَأَقِيمُوا وُجُوهَكُمْ عِندَ كُلِّ مَسْجِدٍ وَادْعُوهُ مُخْلِصِينَ

၂၉။ (အို–နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ ကျွန်ုပ်၏အရှင်မြတ်သည် *တရားမျှတရန်* ⁽¹⁾ အမိန့်ပေးတော်မူခဲ့လေသည်။ ၎င်းပြင် အသင်တို့သည် မိမိတို့မျက်နှာကို "စဂျ်ဒဟ်" ပျပ်ဝပ်ဦးချတိုင်း တည့်မတ်စွာ ထားရှိကြလေကုန်။

➤➤ နှစ်သက်တော်မူသည်ဟူ၍၎င်း၊ အလ္လာဟ်အရှင်မြတ် သတ်မှတ် ပြဋ္ဌာန်းထားတော်မူသော တရားဥပဒေနှင့် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်သောအရာကို ထိုအရှင်မြတ်၏အလိုတော်အတိုင်း ဖြစ်သည်ဟူ၍၎င်း၊ ပြောဆိုခြင်းမှာ မိုက်မဲခြင်းကြီးမက မိုက်မဲခြင်းပင် ဖြစ်ပေသည်။ ဤသည် ရှိုင်တွာန်၏ကျော့ကွင်း နင်းမိခြင်း၏ အကျိုးတည်း။

စက်ဆုပ်ရွံရှာဖွယ်ရာများ၊ မကောင်းမှုများ၊ မုန်းတီးဖွယ်ရာများ၊ ဥပမာ–အမိုက်ခေတ်၌ "ကအ်ဗဟ်" ကျောင်းတော်ကို အမျိုးသမီး၊ အမျိုးသားများ ဝတ်လစ်စားလစ် (တွဝါဖ်)လှည့်ပတ်ဖူးမျှော်ခြင်း။ ထိုသို့ ဝတ်လစ်စားလစ် လှည့်ပတ်ဖူးမျှော်ခြင်းကို ဖြူစင်သောအသိဉာဏ်၊ မှန်ကန်သောလူ့သဘာဝသည် မုချ စက်ဆုပ်ရွံရှာသည်။ အလ္လာဟ်အရှင်မြတ်သည် ထိုသို့ စက်ဆုပ်ရွံရှာဖွယ်အမှုကိုပြုရန် အဘယ်သို့လျှင် အမိန့်ပေးတော်မူနိုင်အံ့နည်း။ ထိုအရှင်မြတ်သည် သန့်ရှင်းမှု၊ ရှက်ကြောက်မှု၊ ယဉ်ကျေးသိမ်မွေ့မှုစသည့် ကောင်းမှုအပေါင်းတို့ကိုသာလျှင် ဖြစ်ထွန်းစေတော်မူသော အရှင်ဖြစ်တော်မူပေရာ၊ ထိုသို့စက်ဆုပ်ရွံရှာများကို ပြုလုပ်ရန် အဘယ်သို့လျှင် သင်ကြားပေတော်မူနိုင်အံ့နည်း။ အမှန်မှာ ထိုသို့သော စက်ဆုပ်ရွံ့ရှာဖွယ်ရာများကို ပြုလုပ်ရန် သင်ကြားပေးသောသူများကား ထိုမိစ္ဆာဒိဋ္ဌိတို့၏ အဆွေခင်ပွန်းများဖြစ်သော ရှိုင်တွာန်များသာလျှင် ဖြစ်ပေသည်။

ဦးစွာပထမ ရှိုင်တွာန်သည်ပင် လူသားတို့၏ဖခင်ကြီးနှင့် မိခင်ကြီးတို့အား သွေးဆောင်ဖြားယောင်း၍ ဝတ်လစ်စားလစ် ဖြစ်ကြရသည်အထိ ဖန်တီးခဲ့၏။ ထိုအချိန်တွင် ဖခင်ကြီးနှင့်မိခင်ကြီးတို့သည် ရှက်ကြောက်လှသဖြင့် ၎င်းတို့၏ခန္ဓာကိုယ်ကို သစ်ရွက်များ ဖုံးအုပ်ခဲ့ကြ၏။ သို့ဖြစ်ပေရာ ဝတ်လစ်စားလစ် ဖြစ်အောင် ပြုလုပ်ခြင်းသည် ရှိုင်တွာန်၏အလုပ်ဖြစ်၍ အရှက်ဖုံးအုပ်ခြင်းသည် ဖခင်ကြီးနှင့်မိခင်ကြီးတို့၏ အလုပ်ဖြစ်ပေသည်။ သို့ပါလျက် ကျောင်းတော်ကို ဝတ်လစ်စားလစ် လှည့်ပတ်ဖူးမျှော်ခြင်းနှင့် ပတ်သက်၍ ဘိုးဘေး၊ ဘီဘင်တို့အား သာဓကအဖြစ် တင်ပြခြင်းသည် အဘယ်သို့လျှင် မှန်ကန်နိုင်အံ့နည်း။ ဖြောင့်ဖြောင့်ကြီးဆန့်ကျင်လျက် ရှိ၏။ လုံးဝမှား၏။ (ရှားအဗ်ဒုလ်ကာဒစ်ရ်)

(၁) "ကစ်တ်"ဟူသည် "အဒ်လ်" ကိုဆိုသည်။ "အဒ်လ်"ဟူသည် အရာရာတွင် ယုတ်လျော့ခြင်း၊ လွန်ကဲခြင်း၊ အပိုအလိုတည်းဟူသော အစွန်း ၂–ဖက်နှင့် ကင်းသည့် အလယ်အလတ်ကို ဆိုသည်။

لَهُ الدِّيْنَ ۬ كَمَا بَدَاَكُمْ تَعُوْدُوْنَ ﴿٢٩﴾

ထို့ပြင် အသင်တို့သည် ထို အရှင်အား ထိုအရှင်မြတ်၏ အမိန့်တော်များကို လိုက်နာသူများ ပီသစွာ ဟစ်ခေါ်ကြလေကုန်။ အသင်တို့သည် ထိုအရှင်မြတ် အသင်တို့အား အစအဦး၊ ကနဦးက ဖန်ဆင်းတော်မူဘိသကဲ့သို့ပင် (ထိုအရှင်မြတ် အထံတော်သို့ တဖန်ရှင်၍) ပြန်ကြရပေလတ္တံ့။

**တနည်း။**

(အိုး-နဗီ) အသင်သည် (ထိုမိစ္ဆာဒိဋ္ဌိတို့အား) ဤသို့ပြောကြားပါလေ။ (အလ္လာဟ်အရှင်မြတ်သည် စက်ဆုပ်ရွံ့ရှာဖွယ်ရာများကို ပြုလုပ်ရန် အလျင်း အမိန့်ပေးတော်မူသည်မဟုတ်။) ကျွန်ုပ်၏အရှင်က အမိန့်ပေးတော်မူသည်မှာ (ဥပမာ) တရားမျှတစွာ ပြုလုပ်ရန်၊ ၎င်းပြင် အသင်တို့သည် "စဂျ်ဒဟ်" ပျပ်ဝပ်ဦးချတိုင်း၊ မိမိတို့၏မျက်နှာ (ဝါ စိတ်)ကို အလ္လာဟ်အရှင်မြတ်၏ ဘက်တော်သို့) တည့်မတ်စွာ ထားကြကုန်။

၎င်းပြင် အသင်တို့သည် ထိုအရှင်မြတ်အား ဝတ်ပြုမှုကို ထိုအရှင်မြတ်အဖို့သာလျှင် စိတ်စေတနာ ဖြူစင်စွာဖြင့် ပြုလုပ်သူများအဖြစ်ဖြင့် ထိုအရှင်မြတ် အား (ဟစ်ခေါ်) ပန်ကြားကြကုန်။ ထိုအရှင်မြတ် က အသင်တို့အား စတင်ဖန်ဆင်းတော်မူသကဲ့သို့ပင် သင်တို့သည် (ထိုအရှင်မြတ်ထံတော်သို့) ပြန်လှည့် ကြရလိမ့်မည်။

فَرِيْقًا هَدٰى وَفَرِيْقًا حَقَّ عَلَيْهِمُ الضَّلٰلَةُ ؕ اِنَّهُمُ

၃၀။ ထိုအရှင်မြတ်သည် လူတစ်စုကို တရား လမ်းမှန်သို့ ရောက်စေတော်မူခဲ့လေသည်။ သို့ရာတွင် လူတစ်စုမှာမူကား လမ်းလွဲခြင်းသည် ၎င်းတို့အပေါ်၌

اتَّخَذُوا الشَّيٰطِيْنَ اَوْلِيَآءَ مِنْ دُوْنِ اللّٰهِ وَ يَحْسَبُوْنَ اَنَّهُمْ مُّهْتَدُوْنَ ۳۰

*အတည် ဖြစ်ခဲ့ချေပြီ။* [၁] အဘယ့်ကြောင့်ဆိုသော် ၎င်းတို့သည် အလ္လာဟ် အရှင်မြတ်အား၊ စွန့်၍ ရှိုင်တွာန် မိတ္တာကောင်တို့ကို မိတ်ဖွဲ့ခဲ့ကြလေသည်။ သို့ရာတွင် ထိုသူတို့သည် မိမိတို့ကိုယ်ကို မိမိတို့ တရားလမ်းမှန်ရရှိသူများဟု ထင်မှတ်ကြကုန်သည်။

يٰبَنِيْٓ اٰدَمَ خُذُوْا زِيْنَتَكُمْ عِنْدَ كُلِّ مَسْجِدٍ وَّكُلُوْا وَاشْرَبُوْا وَلَا تُسْرِفُوْا ۚ اِنَّهٗ لَا يُحِبُّ الْمُسْرِفِيْنَ ۳۱

**၃၁။** အို–အာဒမ်၏ သားသမီးအပေါင်းတို့၊ အသင်တို့သည် ဆွလာတ်ဝတ်ပြုကြသည့် အခါတိုင်းတွင် မိမိတို့၏ဝတ်စားတန်ဆာကို ဝတ်ဆင်ကြကုန်။ ထို့ပြင် အသင်တို့သည်(စားဖွယ်သောက်ဖွယ်ရာများကို) စားသောက်ကြလေကုန်။သို့ရာတွင်အသင်တို့သည် (ယင်းစားဖွယ်သောက်ဖွယ်များကို) မဖြုန်းတီးကြကုန်လင့်။ အကြောင်းသော်ကား ထိုအရှင်မြတ်သည် *ဖြုန်းတီးသူတို့အားနှစ်သက်တော်မူသည် မဟုတ်ပေ။* [၂]

---

(၁) 'အကြင်လူတစ်စုမှာ ၎င်းတို့အပေါ်တွင် လမ်းလွဲခြင်းသည် အတည်ဖြစ်ခဲ့ချေပြီ။ ထိုသူများကား အခြားမဟုတ်၊ အလ္လာဟ်အရှင်မြတ်အား စွန့်လွှတ်၍ ရှိုင်တွာန်များအား အဆွေခင်ပွန်းပြုလုပ်သောသူများပင် ဖြစ်ကြပေသည်။ အံ့ဖွယ်ရာကား ထိုသို့ လမ်းလွဲလျက်ရှိသောသူများသည် ယင်းကဲ့သို့ အထင်အရှား လမ်းလွဲနေကြပါလျက် ငါတို့သည် လမ်းမှန်ပေါ်တွင် သွားနေကြသည်။ ငါတို့၏ဘာသာရေး လမ်းစဉ်သည်သာလျှင် မှန်ကန်သည်ဟူ၍ပင် ထင်မှတ်နေကြပေသည်။ ဤသို့ အမြင်မှား၊ အထင်မှားလျက်ရှိသော ကာဖိရ်များ၏အကြောင်းကို ကုရ်အာန်ကျမ်းမြတ် (၁၈း၁၀၄)တွင်လည်း မိန့်ဆိုထားတော်မူသည်။

(၂) အမိုက်ခေတ်တွင် ကာဖိရ်များသည် အိမ်တော်ကို ဝတ်လစ်စားလစ် လှည့်ပတ်ဖူးမျှော်လေ့ရှိကြ၏။ ဤသို့ ဝတ်လစ်စားလစ်အဖြစ်နှင့် လှည့်ပတ်ဖူးမျှော်ခြင်းကိုပင် အလွန်မွန်မြတ်သော ကုသိုလ်ကောင်းမှုကြီးတစ်ရပ်ဟု မှတ်ယူခဲ့ကြ၏။ အချို့တို့သည် ဟဂျ်အချိန်တွင် အသက်မသေရုံတမျှ စားသောက်ခဲ့ကြ၏။ ထောပတ်၊ ဆီ၊ အစရှိသည်တို့ကို ရှောင်ကြဉ်ခဲ့ကြ၏။ အချို့တို့သည် ဆိတ်နို့၊ အသားစသည်များကို ရှောင်ကြဉ်ခဲ့ကြ၏။ ဤသို့ ပြုလုပ်ခြင်းများကို ကုသိုလ်ကောင်းမှုများဟူ၍ မှတ်ယူခဲ့ကြ၏။ ထို့အတွက်ကြောင့်ပင် (အမိုက်ခေတ်၏) ထိုအပြုအမူများသည် ကောင်းမှုကုသိုလ်ရေးရာများ မဟုတ်ကြောင်း၊ ဤမုကာ့ပါဌ်တော်တွင် မိန့်ဆိုထားတော်မူသည်။ ကိုယ်ခန္ဓာဖုံးအုပ်ရန်နှင့် လှပစေရန်အတွက် အလ္လာဟ်အရှင်မြတ် ပေးသနားတော်မူထားသော အဝတ်အစားများကို လူသားတို့သည် (ဝမ်းသာအားရ) ဝတ်ဆင်ကြရမည်။ အထူးသဖြင့် အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်သည့် အချိန်များတွင် အခြားသော အချိန်အခါများထက်ပင် ပိုမို၍အထူးတလည် ဝတ်ဆင်ကြရပေမည်။ ထိုအရှင်မြတ် ပေးသနားတော်မူသော စားဖွယ်၊ သောက်ဖွယ် များကိုလည်း ဝမ်းသာ အားရ စားသောက်ကြရပေမည်။ (သို့မှသာလျှင် ထိုအရှင်မြတ်အား ကြည်ညိုမြတ်နိုးရာ ရောက်ပေမည်။) သို့ရာတွင် ယင်းသို့ ဝတ်ဆင်၊ ➤➤

قُلْ مَنْ حَرَّمَ زِينَةَ اللّٰهِ الَّتِيٓ اَخْرَجَ لِعِبَادِهٖ وَالطَّيِّبٰتِ مِنَ الرِّزْقِ ۭ قُلْ هِيَ لِلَّذِيْنَ اٰمَنُوْا فِي الْحَيٰوةِ الدُّنْيَا خَالِصَةً يَّوْمَ الْقِيٰمَةِ ۭ كَذٰلِكَ نُفَصِّلُ الْاٰيٰتِ لِقَوْمٍ يَّعْلَمُوْنَ ﴿٣٢﴾

၃၂။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)မေးမြန်းပါလေ။ (အချင်းတို့) အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျွန်များအဖို့ ဖန်ဆင်းထားတော်မူသောတန်ဆာများကိုငှ်း၊ သန့်စင်၍ (ရသာအမြိုက်နှင့်ပြည့်စုံ)သောစားသောက်ဖွယ်ရာများကိုငှ်း၊ မည်သူက *"ဟရာမ်"ဟူ၍တားမြစ်ခဲ့ပါသနည်း။* ၁

(၎င်းပြင် အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့) ပြောကြားပါလေ။ (အချင်းတို့) ဤသည်တို့သည် "အီမာန်" သက်ဝင်ယုံကြည်သူတို့အဖို့ ဤပစ္စုပ္ပန်လောကီဘဝ၌ရှိ၏။ ရှင်ပြန်ထမည့်နေ့တွင်မူကား *(၎င်းတို့အဖို့သာ)သီးသန့်ဖြစ်၏။* ၂ ငါ အရှင်မြတ်သည် ဤနည်း အတိုင်းပင် (မိမိ) ဒေသနာတော်များကို သိနားလည် သူများအဖို့ အသေးစိတ်၍ ဖော်ပြတော်မူလေသတည်း။

---

➤➤ စားသောက်ရာတွင် စည်းကမ်းချက်တစ်ရပ်မှာ ဖြုန်းတီးခြင်းမပြုရ ဟူသော ပညတ်တော်ပင်ဖြစ်သည်။ "အစ္စရာဖ်" ဟူသည် စည်းကမ်းကျူးလွန်ခြင်း အနက်ပေး၏။ စည်းကမ်းကျူးလွန်ခြင်းသည် အမျိုးမျိုးရှိ၏။ ဥပမာ ဟလာလ်ကို ဟရာမ်လုပ်ခြင်း၊ ဟလာလ်၏ အကျိုးကို ခံစားသည်သာမက ဟရာမ်ဖြင့်လည်း အကျိုးခံစားခြင်း၊ စည်းမဲ့ကမ်းမဲ့ ပရမ်းပတာ လောဘရမ္မက်ကြီးစွာဖြင့် စားသုံးခြင်း၊ စားလိုသောဆန္ဒ မရှိပဲလျက် စားသုံးခြင်း၊ အချိန်မဟုတ်ဘဲ စားသုံးခြင်း။ ကျန်းမာရေးနှင့် အင်အားချို့တဲ့သွားစေသည်အထိ အစာအဟာရကို လျှော့ခြင်း၊ ကျန်းမာရေးကို ပျက်ပြားစေသည့်အရာများကို စားသောက်ခြင်း၊ စသည်များသည် "အစ္စရာဖ်" တွင် အကျုံးဝင်၏။ ထို့အတူ အကြောင်းမဲ့ အကျိုးမဲ့ သုံးဖြုန်းခြင်းသည်လည်း "အစ္စရာဖ်" ၏ အစိတ်အပိုင်းတစ်ခုပင် ဖြစ်သည်။

(၁) အလ္လာဟ်အရှင်မြတ်က မိမိ၏ကျွန်များအဖို့ သုံးပိုင်ခွင့်ပြုထားတော်မူသော ကျေးဇူးတော်များကို "ဟရာမ်" ဟူ၍ ပိတ်ပင်တားမြစ်ပိုင်ခွင့်သည် ထိုအရှင်မြတ်မှတပါး မည်သူတစ်ဦးတစ်ယောက်၌မျှ မရှိချေ။ ဟလာလ်ကို ဟရာမ်၊ ဟရာမ်ကို ဟလာလ်၊ ပြုလုပ်သောသူများသည် အလွဲသုံးစားပြုသူများ၊ ကြီးမားသော အပြစ်ကို ကျူးလွန်သူများသာ ဖြစ်ကြပေသည်။

(၂) အထက်တွင် ဖော်ပြပါရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များဖြစ်သည့် ဝတ်စားတန်ဆာများနှင့် စားဖွယ်သောက်ဖွယ်များသည် ဤပစ္စက္ခဘဝတွင်လည်း မုအ်မင်များအဖို့ ဖြစ်သည်။ နောင်တမလွန်ဘဝတွင်မူကား ထိုကျေးဇူးတော်များကို မုအ်မင်န်များသာလျှင် ဆိုင်ကြပေမည်။ မုအ်မင်န်မဟုတ်သူတဦးတယောက်မျှ ဖက်စပ်၊ ပိုင်ဆိုင်မည်မဟုတ်ပေ။

၃၃။ (အို-နဗီတမန်တော်) အသင်သည် (ထိုသူတို့အား ဤသို့)ပြောကြားပါဦး။ (ဟယ်-အချင်းတို့) ငါ့အားမွေးမြူတော်မူသော အရှင်မြတ်သည် စက်ဆုပ်ဖွယ်ရာများအနက်မှ ထင်ရှားသော အရာများကိုငင်း၊ ဖုံးအုပ်၍နေသော အရာများကိုငင်း၊ ပြစ်မှုဒုစရိုက်များကိုငင်း၊ မတရားသဖြင့် ညှဉ်းဆဲခြင်းကိုငင်း၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်က မည်သည့်သက်သေသာဓကေ တစ်စုံတစ်ရာမျှ ချပေးတော်မူခြင်းမရှိခဲ့သောအရာကို ထိုအရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ်(ကိုးကွယ်)ခြင်းကိုငင်း၊ အသင်တို့သည် မိမိတို့မသိနားမလည်သောအကြောင်းအရာများကို ထိုအရှင်မြတ်အပေါ်၌ လီဆယ်ပြောဆိုခြင်းကိုငင်း၊ "ဟရာမ်" ဟူ၍ တားမြစ်တော်မူခဲ့သည်သာတည်း။

قُلْ إِنَّمَا حَرَّمَ رَبِّيَ الْفَوَاحِشَ مَا ظَهَرَ مِنْهَا وَمَا بَطَنَ وَالْإِثْمَ وَالْبَغْيَ بِغَيْرِ الْحَقِّ وَأَنْ تُشْرِكُوا بِاللَّهِ مَا لَمْ يُنَزِّلْ بِهِ سُلْطَانًا وَأَنْ تَقُولُوا عَلَى اللَّهِ مَا لَا تَعْلَمُونَ ﴿٣٣﴾

၃၄။ လူမျိုးအသီးသီးတို့အဖို့ (အသက်ထင်ရှားနေထိုင်ရန်) သတ်မှတ်ပိုင်းခြားထားသော အချိန်ကာလသည်ရှိ၏။ သို့ဖြစ်ပေရာ ၎င်းတို့၏ အချိန်ကာလသည် ဆိုက်ရောက်ခဲ့သည်ရှိသော် ၎င်းတို့သည် အချိန်အနည်းငယ်မျှပင် နောက်ဆုတ်နိုင်ကြမည်လည်းမဟုတ်ပေ။ ရှေ့တိုးနိုင်ကြမည်လည်းမဟုတ်ချေ။ [၁]

وَلِكُلِّ أُمَّةٍ أَجَلٌ فَإِذَا جَاءَ أَجَلُهُمْ لَا يَسْتَأْخِرُونَ سَاعَةً وَلَا يَسْتَقْدِمُونَ ﴿٣٤﴾

၃၅။ အို-အာဒမ်၏သားသမီးအပေါင်းတို့၊ အကယ်၍ အသင်တို့ထံ အသင်တို့အနက်မှပင် ငါအရှင်မြတ်၏ အမိန့်တော်များကို အသင်တို့ရှေ့ဝယ် ရှင်းလင်းပြောပြကြကုန်သော ရစူလ်တမန်တော်များ ရောက်လာခဲ့ကြသောအခါ အကြင်သူသည် ဒုစရိုက်တို့မှ ကြဉ်ရှောင်အံ့။

يَا بَنِي آدَمَ إِمَّا يَأْتِيَنَّكُمْ رُسُلٌ مِنْكُمْ يَقُصُّونَ عَلَيْكُمْ آيَاتِي فَمَنِ اتَّقَى وَأَصْلَحَ فَلَا خَوْفٌ عَلَيْهِمْ وَلَا هُمْ يَحْزَنُونَ ﴿٣٥﴾

(၁) အထက်ဖော်ပြပါ ပညတ်တော်များကို ကျူးလွန်သောသူများသည် ယင်းသို့ ကျူးလွန်ကြသည့်အတွက် ရုတ်တရက်ချက်ချင်း အပြစ်ဒဏ်မခံကြရသည်ကို အကြောင်းပြု၍ ထိုအရာများ၏ ဟရာမ်ပြစ်မှုတွင် ဒွိဟ ➤➤

၎င်းပြင် (အပြစ်အမှုများကို) ပြုပြင်အံ့။ ထို (ကဲ့သို့သော) သူတို့အပေါ်၌ စိုးရိမ် ကြောင့်ကြမှု လည်း ရှိလိမ့်မည် မဟုတ်ပေ။ ၎င်းပြင်ထိုသူတို့သည် ပူဆွေးကြရမည်လည်း မဟုတ်ချေ။

وَالَّذِينَ كَذَّبُوا بِآيَاتِنَا وَاسْتَكْبَرُوا عَنْهَا أُولَٰئِكَ أَصْحَابُ النَّارِ ۖ هُمْ فِيهَا خَالِدُونَ ٣٦

၃၆။ သို့ရာတွင်မူကား အကြင်သူတို့သည် ငါ အရှင်မြတ်၏ အမိန့်တော်များကို ငြင်းပယ်ကြကုန် အံ့။ ၎င်းပြင် ထိုသူတို့သည် အမိန့်တော်များကို မထီ လေးစားပြုလုပ်ကြကုန်အံ့။ ထို(ကဲ့သို့သော) သူတို့ သာလျှင် ငရဲသားများ ဖြစ်ကြကုန်၏။ ၎င်းတို့သည် ငရဲ၌ပင် ထာဝစဉ် နေထိုင်ကြမည့်သူများ ဖြစ်ကြ ပေသည်။

فَمَنْ أَظْلَمُ مِمَّنِ افْتَرَىٰ عَلَى اللَّهِ كَذِبًا أَوْ كَذَّبَ بِآيَاتِهِ ۚ أُولَٰئِكَ يَنَالُهُمْ نَصِيبُهُم مِّنَ الْكِتَابِ ۖ حَتَّىٰ إِذَا جَاءَتْهُمْ رُسُلُنَا

၃၇။ အကြင်သူထက် ပိုမို မတရားကျူးလွန် သောသူသည်မည်သူရှိအံ့နည်း။ ထိုသူသည် အလ္လာဟ် အရှင်မြတ်အပေါ်၌ မုသားကို *ကြံဖန်လီဆယ်၍ စွပ်စွဲခဲ့လေသည်။* [၁] သို့တည်းမဟုတ် ထိုသူသည် ထိုအရှင်မြတ်၏ ဒေသနာတော်များကို အမှားဟု ဆိုခဲ့လေသည်။ ထိုသူတို့ထံ ထိုသူတို့အဖို့ သတ်မှတ် ထားသော ဝေစုဝေပုံသည် (ထိုပစ္စက္ခကာလ၌ပင်) ရောက်ရှိအံ့။

---

➤➤သံသယမရှိရာ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် အုပ်စုတိုင်းကို ပြစ်ဒဏ်ပေးရန်အတွက် အချိန်ကာလကို သတ်မှတ်ထားတော်မူပြီး ဖြစ်သည်။ ထိုအချိန်ကျရောက်သည့်အခါ တစ်နာရီမျှပင် နောက်ဆုတ် နိုင်ကြမည်လည်း မဟုတ်။ ရှေ့တိုးနိုင်ကြမည်လည်း မဟုတ်။ သတ်မှတ်ထားတော်မူသော အချိန်ကာလကုန်လျှင် ကုန်ခြင်းပင် အပြစ်ဒဏ်ကို စတင်ခံကြရမည်ဖြစ်သည်။ ကြည့်-ထာနဝီ။ အ-၄၊ စ-၁၂။

⓵ အလ္လာဟ်အရှင်မြတ်အပေါ်၌ မုသားစွပ်စွဲပြောဆိုခြင်းဟူသည်၊ ဥပမာ အလ္လာဟ်အရှင်မြတ် ပြောကြားတော် မမူသော စကားများကို အလ္လာဟ်အရှင်မြတ် ပြောကြားတော်မူသော စကားဟူ၍ ပြောဆိုခြင်း၊ အလ္လာဟ် အရှင်မြတ်၏ ဒေသနာတော်များကို မုသား ဟုဆိုခြင်းဟူသည်၊ ဥပမာ အလ္လာဟ်အရှင်မြတ် မိန့်ကြားတော် မူသော စကားများကို အလ္လာဟ်အရှင်မြတ် ပြောကြားတော်မူသော စကားများမဟုတ် ဟူ၍ ပြောဆိုခြင်း။
ကြည့်-ထာနဝီ။ အ-၄၊ စ-၁၄။ ➤➤

يَتَوَفَّوْنَهُمْ قَالُوٓا أَيْنَ مَا
كُنتُمْ تَدْعُونَ مِن دُونِ
ٱللَّهِ ۖ قَالُوا ضَلُّوا عَنَّا
وَشَهِدُوا عَلَىٰٓ أَنفُسِهِمْ أَنَّهُمْ
كَانُوا كَـٰفِرِينَ ﴿٣٧﴾

နောက်ဆုံးတွင်မူ ထိုသူတို့ထံ ငါအရှင်မြတ်၏စေတမန်တို့သည် ထိုသူတို့၏ ဇီဝိန်ကို နှုတ်သိမ်းရန် ရောက်ရှိလာကြသောအခါ ထိုစေတမန်တို့က (ထိုသူတို့အား ဤသို့) မေးမြန်းကြလတ္တံ့။ "အသင်တို့ အလ္လာဟ် အရှင်မြတ်ကိုစွန့်၍ ဟစ်ခေါ်ခဲ့ကြသော အရာများသည် အဘယ်မှာနည်း"။ ထိုအခါ ၎င်းတို့က "ထိုအရာများသည် ကျွန်ုပ်တို့ထံမှ ပျောက်ကွယ်သွားကြလေပြီဟု ဖြေကြားကြမည်။ ၎င်းပြင် ထိုသူများသည် မိမိတို့နှင့်ဆန့်ကျင်၍ ကျွန်ုပ်တို့သည် ဧကန် စင်စစ် 'ကာဖိရ်' မယုံမကြည် သွေဖည် ငြင်းပယ်သူများ ဖြစ်ကြပါသည်" ဟူ၍လည်း သက်သေခံကြလိမ့်မည်။

قَالَ ٱدْخُلُوا فِىٓ أُمَمٍ قَدْ خَلَتْ
مِن قَبْلِكُم مِّنَ ٱلْجِنِّ وَٱلْإِنسِ
فِى ٱلنَّارِ ۖ كُلَّمَا دَخَلَتْ أُمَّةٌ
لَّعَنَتْ أُخْتَهَا ۖ حَتَّىٰٓ إِذَا ٱدَّارَكُوا
فِيهَا جَمِيعًا قَالَتْ أُخْرَىٰهُمْ

၃၈။ (အလ္လာဟ်)အရှင်မြတ်သည် (ရှင်ပြန်ထမည့်နေ့တွင် ၎င်းတို့အား) အသင်တို့ မိမိတို့အလျင်လွန်လေပြီးသော (ကာဖိရ်)ဂျင်(န်)နှင့် လူအုပ်စုများနှင့်အတူ "ဂျဟန္နမ်" ငရဲဘုံသို့ လားကြလေကုန်ဟု မိန့်ကြားတော်မူအံ့။ မည်သည့်အခါမဆို အုပ်စုတစုသည် (ဂျဟန္နမ်ငရဲဘုံသို့) ဝင်ရောက်လျှင် မိမိတို့နှင့် ဘာသာဝါဒတူ (အသွင်တူ) *အုပ်စုအချင်းချင်းအား ကျိန်ဆဲကြလတ္တံ့။*[၁]

---

➤➤ ဆိုလိုသည်ကား အမှန်တကယ် အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို ဟောကြားကြကုန်သော နဗီတမန်တော် အစစ်အမှန်တို့ စကားများကို လူသားတို့သည် မုချနာခံကြရပေမည်။ သို့ရာတွင် အကြင်သူတစ်ယောက်သည် မိမိကိုယ်ကိုမိမိ နဗီတမန်တော်ဖြစ်သည်ဟု လိမ်လည်ပြောဆိုအံ့။ ၎င်းပြင် မိမိကိုယ်တိုင် မဟုတ်မမှန်သော စကားရပ်များကို ဒေသနာတော်များဟုဆိုကာ အလ္လာဟ်အရှင်မြတ်အပေါ်၌ မုသားစွပ်စွဲပြောဆိုအံ့။ သို့မဟုတ် မှန်သောနဗီတမန်တော်တပါးပါး ယူဆောင်လာသော ဒေသနာတော်တို့ကို မုသားစကားများဖြစ်သည်ဟု ပြောဆိုအံ့။ ထိုသို့သော သူ ၂-ဦးထက် မတရားသူကား အသူရှိအံ့နည်း။ တစ်ဦးတစ်ယောက်မျှ မရှိပေ။

(၁) ကိယာမတ်နေ့တွင် ကာဖိရ်များသည် ငရဲတွင်းသို့ ရောက်ကြသည့်အခါ ဝါဒတူ၊ အသွင်တူ အချင်းချင်း သနားကြင်နာရန်ဝေးစွ၊ တဦးကိုတဦး ကဲ့ရဲ့ပြစ်တင် ရှုတ်ချကြမည်၊ ကျိန်ဆဲကြမည်။ ➤➤

لِأُولٰىهُمْ رَبَّنَا هٰٓؤُلَآءِ اَضَلُّوْنَا فَاٰتِهِمْ عَذَابًا ضِعْفًا مِّنَ النَّارِ ۚ قَالَ لِكُلٍّ ضِعْفٌ وَّلٰكِنْ لَّا تَعْلَمُوْنَ ﴿٣٨﴾

နောက်ဆုံးတွင် ထို ဂျဟန္နမ် ငရဲဘုံ၌ (အုပ်စု) အားလုံး စုမိကြသောအခါ ၎င်းတို့အနက်မှ နောင်လာ နောင်သားများက မိမိတို့အနက်မှ ရှေးလူတို့နှင့် ပတ်သက်၍ ¹ "အို-ကျွန်တော်မျိုးတို့၏ အရှင်မြတ်၊ ဤသူတို့သည်ပင်လျှင် ကျွန်တော်မျိုးတို့အား လမ်းလွဲစေခဲ့ကြပါသဖြင့် အရှင်မြတ်သည် ၎င်းတို့အား ဂျဟန္နမ်ငရဲဘုံ၏ ပြစ်ဒဏ်ကို ဆထက်ထမ်းပိုးတိုး၍ ပေးတော်မူပါ" ဟု လျှောက်ထားကြလတ္တံ့။ ထိုအခါ အရှင်မြတ်ကဆထက်ထမ်းပိုး ပြစ်ဒဏ်သည် (အသင်တို့) အသီးသီးတို့၌ရှိ၏။ သို့ရာတွင် အသင်တို့သည် မသိကြချေဟု မိန့်ကြားတော်မူအံ့။

وَقَالَتْ اُوْلٰىهُمْ لِاُخْرٰىهُمْ فَمَا كَانَ لَكُمْ عَلَيْنَا مِنْ فَضْلٍ فَذُوْقُوا الْعَذَابَ بِمَا كُنْتُمْ تَكْسِبُوْنَ ﴿٣٩﴾

၃၉။ ထို့ပြင် ၎င်းတို့၏ ရှေးလူများက မိမိတို့၏ နောင်လာနောင်သားများအား (ဤသို့) ပြောဆိုကြလတ္တံ့။ သို့ဖြစ်လျှင် အသင်တို့၌ (အပြစ်ဒဏ်လျှော့ခြင်းနှင့်စပ်လျဉ်း၍) ငါတို့ထက်မည်သို့မျှ သာပိုခြင်းမရှိပြီ၊ သို့ဖြစ်လေရာ အသင်တို့သည် မိမိတို့ဆည်းပူးခဲ့ကြသည့် (မကောင်းမှုဒုစရိုက်) များကြောင့် ပြစ်ဒဏ်(၏ရသာ)ကို မြည်းစမ်းကြလေကုန်။

اِنَّ الَّذِيْنَ كَذَّبُوْا بِاٰيٰتِنَا وَاسْتَكْبَرُوْا عَنْهَا لَا تُفَتَّحُ لَهُمْ

၄၀။ ဧကန်စင်စစ်အကြင်သူတို့သည် ငါအရှင်မြတ်၏ ဒေသနာတော်များကို မဟုတ်မမှန်ဟု ငြင်းဆိုကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် ယင်းဒေသနာတော်များကို နာယူခြင်းမှ မထီလေးစား ပြုလုပ်ကြကုန်၏။

➤➤ ဤအကြောင်းကို ကုရ်အာန်ကျမ်းမြတ် (၂၉:၂၅။ ၃၈:၅၅-၆၄။ ၃၃:၆၆-၆၈) တွင်လည်း မိန့်ဆိုထားတော်မူသည်။ ဤသည်လည်း အပြစ်ဒဏ်တရပ်ပင်။ ကြည့်၊မာဂျိဒီ၊ အ-၂။ စ-၃၃။ အအ-၅၃။

(၁) ထိုသူများအနက် နောက်လူများဟူသည် အဆင့်အတန်းအားဖြင့် နိမ့်ကျသူများကို ဆိုသည်။ ထိုသူများသည် နောက်လိုက်များနှင့် အဆင့်အတန်း နိမ့်ကျသူများ ဖြစ်ကြသည်။ ထိုသူများ အနက် ရှေ့လူများဟူသည် အဆင့်အတန်းအားဖြင့် ရှေ့ကျသူများကို ဆိုသည်။ ထိုသူများသည် ရှေ့ဆောင်ရှေ့ရပ်များ၊ အကြီးအကဲများ ဖြစ်ကြသည်။

أَبْوَابُ السَّمَآءِ وَلَا يَدْخُلُونَ الْجَنَّةَ حَتّٰى يَلِجَ الْجَمَلُ فِىْ سَمِّ الْخِيَاطِ ۚ وَكَذٰلِكَ نَجْزِى الْمُجْرِمِيْنَ ﴿٤٠﴾

*ထိုသူတို့အဖို့ ကောင်းကင်၏တံခါးများသည် ဖွင့်ထားခြင်း ခံရလိမ့်မည်မဟုတ်ပေ။* [1] ထိုနည်းတူစွာ *ကုလားအုတ်သည် အပ်ပေါက်တွင်းသို့ မဝင်နိုင်သမျှ ကာလပတ်လုံး* [2] ၎င်းတို့သည် ဂျန္နတ် အမတသုခဘုံသို့လည်း ဝင်ရောက်နိုင်ကြမည် မဟုတ်ချေ။ အမှန်သော်ကား ငါအရှင်မြတ်သည် ဤနည်းအတိုင်းပင် အပြစ်ရှိသူတို့အား ပြစ်ဒဏ်ပေးတော်မူသတည်း။

لَهُمْ مِّنْ جَهَنَّمَ مِهَادٌ وَّمِنْ فَوْقِهِمْ غَوَاشٍ ۚ وَكَذٰلِكَ نَجْزِى الظّٰلِمِيْنَ ﴿٤١﴾

**၄၁။** ၎င်းတို့၌ ငရဲမီး၏ အိပ်ရာပင်ရှိအံ့၊ ထိုနည်းတူစွာ *၎င်းတို့အပေါ်၌လည်း (ငရဲမီး၏) အဖုံးအအုပ်များရှိအံ့။* [3] စင်စစ်မူကား ငါအရှင်မြတ်သည် မတရား ကျူးလွန်သူတို့အား ဤနည်းအတိုင်းပင် ပြစ်ဒဏ်ပေးတော်မူသတည်း။

---

(၁) "ထို(ကာဖိရ်)များအတွက် မိုးကောင်းကင်၏ တံခါးများကို ဖွင့်ပေးလိမ့်မည်မဟုတ်" ဆိုလိုသည်ကား-

(က) ထိုသူတို့၏ ကောင်းမှုများသည် မိုးကောင်းကင်သို့ တက်ရမည်မဟုတ်။ သာဓကအဖြစ် ကုရ်အာန်ကျမ်းမြတ် (၃၅:၁၀။ ၈၃:၁၈)ကို ရှုပါကုန်။

(ခ) အဆိုတရပ်မှာ- "ဂျန္နတ်" သည် မိုးကောင်းကင်၌ ရှိ၏။ ဆိုလိုသည်ကား- ထိုကာဖိရ်များအား မိုးကောင်းကင်သို့ တက်ခွင့်ပေးတော်မူမည်မဟုတ်။ ဂျန္နတ်တွင်းသို့ ဝင်နိုင်ရန်အတွက် ၎င်းတို့အား လမ်းပေးတော်မူမည်လည်း မဟုတ်။

(ဂ) အခြားအဆိုတရပ်မှာ မုအ်မင်န်များ၏ ဝိညာဉ်များသည် မိုးကောင်းကင်သို့ တက်သကဲ့သို့ ကာဖိရ်များ သေကြသည့်အခါ ၎င်းတို့၏ဝိညာဉ်များသည် တက်နိုင်မည်မဟုတ်။

(ဃ) အခြားအဆိုတရပ်မှာကား- ထိုကာဖိရ်များအပေါ်သို့ ကောင်းချီးမင်္ဂလာ သက်ရောက်မည်မဟုတ်။ ထိုကာဖိရ်များသည် အကူအညီလည်း ရရှိကြမည် မဟုတ်ပေ။

(၂) ကုလားအုတ် နဖားပေါက်တွင်းသို့ မဝင်နိုင်သမျှ ကာလပတ်လုံး ကာဖိရ်များသည်လည်း ဂျန္နတ်တွင်းသို့ ဝင်နိုင်မည် မဟုတ်ပေ။ ဤသည် မဖြစ်နိုင်သောအရာနှင့် မှီတွယ်၍ မဖြစ်နိုင်ကြောင်းကို မိန့်ဆိုထားတော်မူခြင်းပင် ဖြစ်သည်။ ဘာသာစာပေတိုင်း လိုလိုမှာပင် ဤသို့သော စကားပုံများ အသုံးအနှုန်းများကို တွေ့ရှိရပေသည်။ အရာတစ်ခု၏ မဖြစ်နိုင်ကြောင်းကို ထင်ရှားပြဆိုသောအခါ ထိုအရာကို အလျင်းမဖြစ်နိုင်သော အရာတစ်ခု၏ ဖြစ်ရှိမှုနှင့် ဆက်စပ်မှီတွယ်၍ ပြောဆိုသုံးနှုန်းလေ့ ရှိကြပေသည်။

ကုလားအုပ်သည် ကြီးမားလှသည့် ကိုယ်ခန္ဓာရှိသော တိရစ္ဆာန်ဖြစ်၏။ အပ်နဖားပေါက်သည် အလွန်တရာမျှ သေးငယ်ကျဉ်းမြောင်းလှ၏။ ထိုသို့ကြီးမားလှသော ကုလားအုတ်သည် ဤမျှသေးငယ် ကျဉ်းမြောင်းလှသော အပ်နဖားပေါက်တွင်းသို့ အသို့လျှင် သက်ဆင်းဝင်ရောက် တုံ့ခေါက်သွားလာနိုင်အံ့နည်း။ ➤➤

وَالَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ لَا نُكَلِّفُ نَفْسًا إِلَّا وُسْعَهَا أُولَٰئِكَ أَصْحَابُ الْجَنَّةِ ۖ هُمْ فِيهَا خَالِدُونَ ﴿٤٢﴾

၄၂။ သို့ရာတွင် အကြင်သူတို့သည် သက်ဝင်ယုံကြည်ကြ၏။ ၎င်းပြင် ကောင်းမြတ်သော အကျင့်သီလများကိုလည်း ဆောက်တည်ကြကုန်၏။ (အမှန်သော်ကား) ငါအရှင်မြတ်သည် မည်သူ့ကိုမဆို ၎င်း၏ *အင်အားနှင့်အမျှသာလျှင် တာဝန်ပေးတော်မူ၏။* [၁] ထိုသူတို့သည်ပင်လျှင် ဂျန္နတ်အမတ သုခဘုံသားများဖြစ်ကြကုန်၏။ ထိုသူတို့သည် ယင်းဂျန္နတ်အမတ သုခဘုံ၌ပင် ထာဝစဉ် နေထိုင်စံမြန်းကြလတ္တံ့။

وَنَزَعْنَا مَا فِي صُدُورِهِم مِّنْ غِلٍّ تَجْرِي مِن تَحْتِهِمُ الْأَنْهَارُ ۖ وَقَالُوا الْحَمْدُ لِلَّهِ الَّذِي

၄၃။ ထိုမှတပါး ငါအရှင်မြတ်သည် ၎င်းတို့၏ စိတ်တွင်းဝယ် (ကျန်)ရှိနေသေးသော *ရန်ငြိုးရန်စ အာဃာတကိုလည်း ထုတ်ပစ်တော်မူအံ့။* [၂] ၎င်းတို့၏ အောက်တွင် စမ်းရေချောင်းများ စီးတွေလျက်ရှိအံ့။

---

➢➢ ဤကား အလျင်း မဖြစ်နိုင်ပေ။ ထို့အတူပင် ကာဖိရ်များ သည်လည်း ဂျန္နတ် အတွင်းသို့ အလျင်း ဝင်ကြရမည် မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် ကာဖိရ်များသည် ဂျဟန္နမ်ငရဲတွင် အမြဲထာဝစဉ် လားကြရမည့်အကြောင်း အလ္လာဟ် အရှင်မြတ်က အတည့်အလင်း မိန့်ကြားတော် မူထားပြီး ဖြစ်သည်။
(၃) ဂျဟန္နမ်တွင် ကာဖိရ်တို့ကို အထက်၊ အောက်၊ ရှေ့၊ နောက်၊ အဘက်ဘက်မှ ငရဲမီးသည် ဝိုင်းခြံလျက်ရှိမည်။ မည်သည့်ဘက်မျှ သက်သာကွက်ဟူ၍ အလျင်းမရှိချေ။

(ကြည့်-ထာနဝီ။ အ-၄။ စ-၁၄။)

(၁) "ငါအရှင်မြတ်သည် မည်သူ့ကိုမျှ ၎င်း၏အင်အားထက်ပို၍ ဝန်ထမ်းစေတော်မူသည်" မဟုတ်၊ အင်အားနှင့် အမျှသာ ဝန်ထမ်းစေတော်မူသည်။ ဤသည် စကားညှပ် ဖြစ်သည်။ ဆိုလိုသည်ကား အီမာန်နှင့် ကောင်းမြတ်သော အကျင့်သီလ ဆောက်တည်မှုသည် ခဲယဉ်းသည်မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် မည်သူ့ကိုမျှ စွမ်းအား ရှိသည်ထက် ပို၍ ဝန်ထမ်းစေတော် မူသည် မဟုတ်ပေ။

(ကြည့်-ထာနဝီ။အ-၄။ စ-၁၅။)

ဂျန္နတ်တွင်းသို့ဝင်ရန် ကိစ္စသည် ခဲယဉ်းသည်မဟုတ်ပေ။ ဂျန္နတ်တွင်းသို့ဝင်ရန် အကြောင်းတရားမှာ ကောင်းမြတ်သော အကျင့်သီလပင် ဖြစ်သည်။ ကောင်းမြတ်သော အကျင့်သီလ ဟူသည်ကား လူသားတို့အား ၎င်းတို့၏စွမ်းအားနှင့်အမျှ ပေးထားတော်မူသော အလ္လာဟ်အရှင်မြတ်၏အမိန့်တော်များကို လိုက်နာ ကျင့်သုံးခြင်းပင်ဖြစ်သည်။ ယင်းသို့ လိုက်နာကျင့်သုံးခြင်းသည်ပင် ကောင်းမြတ်သော အကျင့်သီလဖြစ်သည်။ ထိုကောင်းမြတ်သော အကျင့်သီလသည်ပင်လျှင် ဂျန္နတ်တွင်းသို့ ဝင်ရောက်ရန်အတွက် သော့ချက်ဖြစ်ချေသည်။

(ကြည့်-မာဂျိဒီ၊ အ-၂။ စ-၃၃၃။ အအ-၅၆။)

(၂) အထက် ကုရ်အာရ်ကျမ်းမြတ် (၇:၃၈-၃၉)တွင် ဂျဟန္နမ်ငရဲ၌ ခံစားကြရမည့် ကာဖိရ်များသည် ➢➢

هَدٰىنَا لِهٰذَا ۗ وَمَا كُنَّا لِنَهْتَدِيَ لَوْلَآ اَنْ هَدٰىنَا اللّٰهُ ۚ لَقَدْ جَآءَتْ رُسُلُ رَبِّنَا بِالْحَقِّ ۗ وَنُوْدُوْٓا اَنْ تِلْكُمُ الْجَنَّةُ اُوْرِثْتُمُوْهَا بِمَا كُنْتُمْ تَعْمَلُوْنَ ﴿٤٣﴾

ငင်းပြင် ထိုသူတို့သည် (ဤသို့)ပြောဆို (ချီးကျူး)ကြလတ္တံ့။ ချီးမွမ်း ထောမနာအပေါင်းတို့ကို ကျွန်ုပ်တို့အား ဤသည့်(နေရာ)သို့ ပို့တော်မူသော အလ္လာဟ် အရှင်မြတ်သည်သာလျှင် ဆိုင်တော်မူ၏။ စင်စစ်တမူကား အလ္လာဟ်အရှင်မြတ်သာလျှင် ကျွန်ုပ်တို့အား ပို့တော်မမူပါလျှင် ကျွန်ုပ်တို့သည် (ဤနေရာသို့ အလျှင်း) ရောက်ရှိကြမည် မဟုတ်ပေ။

ဧကန်စင်စစ် ကျွန်ုပ်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ ရစူလ်တမန်တော်များသည် အမှန်တရားကိုပင် ယူဆောင်ခဲ့ကြကုန်သည်။ ငင်းပြင် ထိုသူတို့သည် (ဤသို့)အသံပေးခြင်းကို ကြားကြရလတ္တံ့၊ "ဤသည် အကြင်ဂျန္နတ် အမတသုခဘုံတည်း"။

➤➤ အချင်းချင်း ကဲ့ရဲ့ပြစ်တင် ငြူစူရှုတ်ချ ကျိန်ဆဲကြမည့် အကြောင်းပါရှိခဲ့၏။ ဂျန္နတ်တွင် ခံစားကြရမည့် မုအ်မင်န်တို့ကား ထိုကာဖိရ်များကဲ့သို့ မဟုတ်။ အချင်းချင်း ရင်းနှီးကြမည်။ တဦးပေါ်တဦး မေတ္တာထားကြမည်။ ဂျန္နတ်သားတို့တွင် ရန်ငြိုးထားမှု၊ ငြူစူမှု၊ မုန်းထားမှု၊ မစ္ဆေရ၊ အာဃာတ အစရှိသည် ပါပါညစ်ကျူအစုစုတို့သည် အလျှင်းရှိမည်မဟုတ်ပေ။ စိတ်စေတနာ ဖြူစင်ချစ်ခင်ရင်းနှီးသော မိတ်ဆွေသင်္ဂဟ အပေါင်းအဖော်များနှင့် အတူတကွ နေထိုင်ရခြင်းသည်ပင်လျှင် ကြီးမားလှသော ကောင်းချီးမင်္ဂလာတပါး ဖြစ်ပေသည်။
ကြည့်-မာရိဒီ။ အ-၂၊ စ-၃၃၃၊ အအ-၅၇။

အခြား အဖွင့်တစ်ရပ်မှာ သူတော်စင်များတွင် ဤပစ္စက္ခဘဝ၌ အချင်းချင်း လူ့သဘာဝအလျောက် ငြူစူမှု၊ စိတ်ငြိုငြင်မှုများ ဖြစ်ပေါ်တတ်ပေသည်။ ထိုသို့သော သူတော်စင်များ ဂျန္နတ်တွင်းသို့ မဝင်ရောက်မီ အလျင်ပင် အလ္လာဟ်အရှင်မြတ်သည် ငင်းတို့၏ စိတ်နှလုံးများအတွင်းမှ ထိုငြိုငြင်မှု၊ ငြူစူမှု၊မစ္ဆေရ၊ အာဃာတ စသည်များကို ထုတ်ပစ်တော်မူမည် ဖြစ်သည်ဟူ၏။

သာဝကကြီး အလီသခင်ကလည်း "ကျွန်ုပ်နှင့် အွတ်ဆ်မာန်၊ တွာလ်ဟတ်၊ ဇုဗိုင်ရ်တို့သည်လည်း အကြင်ပုဂ္ဂိုလ်မြတ်တို့တွင် အပါအဝင်ဖြစ်ကြလိမ့်မည်" ဟု ကျွန်ုပ်မျှော်လင့်ပါသည်။ ထိုပုဂ္ဂိုလ်များနှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်က "ငါအရှင်မြတ်သည် ငင်းတို့၏ စိတ်နှလုံးများမှ အာဃာတကို ထုတ်ပစ်တော်မူမည်" ဟု မိန့်ဆိုထားတော်မူသည်"ဟု ပြောဆိုခဲ့လေသည်။

အိဗ်နုကဆီရ်။ အ-၂။ စ-၂၁၅။

ထိုဂျန္နတ်အမတ သုခဘုံကို အသင်တို့သည် မိမိတို့ ပြုခဲ့ကြသည့် (ကောင်းမှု)များကြောင့် *အမွေ ရရှိခဲ့ကြချေပြီ။* ၁

وَنَادَىٰٓ أَصْحَٰبُ ٱلْجَنَّةِ أَصْحَٰبَ ٱلنَّارِ أَن قَدْ وَجَدْنَا مَا وَعَدَنَا رَبُّنَا حَقًّا فَهَلْ وَجَدتُّم مَّا وَعَدَ رَبُّكُمْ حَقًّا ۖ قَالُوا۟ نَعَمْ ۚ فَأَذَّنَ مُؤَذِّنٌۢ بَيْنَهُمْ أَن لَّعْنَةُ ٱللَّهِ عَلَى ٱلظَّٰلِمِينَ ﴿٤٤﴾

၄၄။ ထို့ပြင်တဝ ဂျန္နတ်အမတ သုခဘုံသားတို့သည် ဂျဟန္နမ်ငရဲသားတို့အား (ဤသို့)ဟစ်ခေါ် (ပြောဆို)ကြကုန်အံ့။ "ငါတို့သည် ငါတို့၏အရှင်မြတ်က ငါတို့နှင့်ထားရှိတော်မူခဲ့သော ကတိတော်အတိုင်း မှန်ကန်စွာရရှိကြပြီ။ အသင်တို့သည်လည်း အသင်တို့၏အရှင်မြတ်က အသင်တို့နှင့် ထားရှိတော်မူသော ကတိတော်အတိုင်း မှန်ကန်စွာရရှိကြပြီလော၊" ထိုအခါ ၎င်း(ဂျဟန္နမ် ငရဲသား)တို့က "ဟုတ်ကဲ့" (ရရှိကြပါပြီ) ဟု ဖြေကြားကြလတ္တံ့။ ၂

ထိုနောက် *ဟစ်အော်သူတဦးက* ၃ ၎င်းတို့၏ စပ်ကြားတွင် (ဤသို့)ဟစ်အော် ပြောဆိုအံ့၊ မတရားကျူးလွန်သောသူတို့သည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ ကင်းဝေးကြစေသား"။

(၁) "အသင်တို့သည် ဤဂျန္နတ်ကို အမွေရရှိကြပြီ" ဟူသော စကားတော်တွင် အမွေဟူ၍ သုံးနှုန်းထားတော်မူသည်။ အဘယ်ကြောင့်ဆိုသော် ဂျန္နတ်သည် လူသားတို့၏ဖခင်ကြီး အာဒမ်(အလိုင်ဟိဿလာမ်)၏ နေရင်းဌာနဖြစ်ရာ ထိုဂျန္နတ်ကိုလူသားတို့ ရရှိခြင်းမှာ အမွေရရှိခြင်းပင်ဖြစ်သည်။ ကြည့်-မာဂျီဒီ။ အ-၂၊ စ-၃၃၃၊ အအ-၅၉။

ဤမုက္ခပါဌ်တော်တွင် "အသင်တို့ ပြုကျင့်ခဲ့ကြသော ကောင်းမှုများကြောင့်" ဟူသော စကားတော်ကို ထောက်ရှုခြင်းအားဖြင့် ဂျန္နတ်တွင်းသို့ဝင်ရန် အကြောင်းတရားမှာ ကောင်းမြတ်သော အကျင့်သီလများ ဖြစ်သည်ဟူ၍ သိရှိရပေသည်။ တမန်တော်မြတ်၏ "ဟဒီဆ်" သြဝါဒတော်များတွင်မူကား မည်သူ တဦးတယောက်မျှပင် မိမိ၏ အကျင့်သီလများကြောင့် ဂျန္နတ်တွင်းသို့ ဝင်ရမည် မဟုတ်ကြောင်း၊ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော် အဟုန်ဖြင့်သာလျှင် ဝင်ရမည်ဖြစ်ကြောင်း လာရှိပေသည်။ ဤတွင် ကုရ်အာန်နှင့် ဟဒီဆ် ဆန့်ကျင်လျက်ရှိသည်ဟု သာမာန်အားဖြင့် ထင်မှတ် ဖွယ်ရာရှိသည်။ အမှန်မှာ မဆန့်ကျင်ပေ။ လင်းပြဦးအံ့။

ကုရ်အာန်ကျမ်းမြတ်တွင် ဂျန္နတ်တွင်းသို့ဝင်ရန် အကြောင်းတရား (ဝါ) လူသားတို့၏ အကျင့်သီလကို ထုတ်ဖော် မိန့်ဆိုထားတော်မူသည်။ တမန်တော်မြတ်၏ "ဟဒီဆ်" သြဝါဒတော် တွင်ကား၊ ဂျန္နတ်တွင်းသို့ဝင်ရန် မူလဘူတ အရင်းခံအစစ်အမှန် အကြောင်းတရားဖြစ်သော အလ္လာဟ်အရှင်မြတ်၏ကရုဏာတော်ကို ဖွင့်ဟ မိန့်ဆိုထားတော်မူသည်။ ကြည့်-ထာနဝီ။ အ-၄။ စ-၁၅။

الَّذِينَ يَصُدُّونَ عَن سَبِيلِ اللَّهِ وَيَبْغُونَهَا عِوَجًا وَهُم بِالْآخِرَةِ كَافِرُونَ ﴿٤٥﴾

၄၅။ အကြင် (မတရား ကျူးလွန်သော) သူတို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်မှ တိမ်းရှောင်ခဲ့ကြသည့်ပြင် ထိုလမ်းတော်၌ *အကွေ့အကောက်ကို ရှာဖွေ စူးစမ်းခဲ့ကြကုန်၏။* [၁] ၎င်းပြင် ထိုသူတို့သည် နောင်တမလွန် ဘဝကိုလည်း ငြင်းပယ်သူများပင် ဖြစ်ခဲ့ကြကုန်သတည်း။

وَبَيْنَهُمَا حِجَابٌ ۚ وَعَلَى الْأَعْرَافِ رِجَالٌ يَعْرِفُونَ كُلًّا بِسِيمَاهُمْ ۚ وَنَادَوْا أَصْحَابَ الْجَنَّةِ أَن سَلَامٌ عَلَيْكُمْ ۚ لَمْ يَدْخُلُوهَا وَهُمْ يَطْمَعُونَ ﴿٤٦﴾

၄၆။ ၎င်းပြင် ယင်း(ဂျန္နတ် အမတသုခဘုံနှင့် ဂျဟန္နမ်ငရဲဘုံ)၂ခုတို့၏ စပ်ကြားတွင် *အကွယ်အကာတခုသည် တည်ရှိအံ့။* [၂] ထိုမှတပါး (အအ်ရာဖ်) အမြင့်၌လည်း လူများစွာရှိကြမည်။ ထိုသူများသည် (ဂျန္နတ်အမတ သုခဘုံသားတို့နှင့် ဂျဟန္နမ်ဘုံသား) အားလုံးတို့ကို ၎င်းတို့၏အမှတ်အသားဖြင့် မှတ်မိကြလိမ့်မည်။ ၎င်းပြင် ထိုလူများသည် ဂျန္နတ်အမတ သုခဘုံသားတို့အား (စလာမ့်နှုတ်ဆက်ကွန်မ်) ချမ်းမြေ့သာယာခြင်းသည် သင်တို့အပေါ်၌ ရှိပါစေသားဟု ဟစ်အော် (ပြောဆို)ကြလိမ့်မည်။ ၎င်းတို့သည် ဂျန္နတ် အမတသုခဘုံသို့ မဝင်ရောက်ကြရသေးသော်ငြားလည်း(ဝင်ရောက်ကြရလိမ့်မည်ဟု) မျှော်လင့်တောင့်တလျက် ရှိကြလိမ့်မည်။

---

(၂) မုအ်မင်န်တို့အား အလ္လာဟ်အရှင်မြတ် ထားရှိတော်မူသော ကတိကား အီမာန်ယုံကြည်၍ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်သူများအား ဂျန္နတ်ပေးတော်မူသော ကတိပင်ဖြစ်သည်။ ကာဖိရ်တို့အား အလ္လာဟ်အရှင်မြတ် ထားရှိတော်မူသော ကတိကား "ကာဖိရ်" သွေဖည်ငြင်းဆန် မနာခံသောသူများအား ဂျဟန္နမ်သို့ လားစေမည်ဟူသော ကတိပင်ဖြစ်သည်။ ကြည့်-ထာနဝီ၊ အ-၄။ စ-၁၆။

(၃) ဤမုကွဲပါဌ်တော်တွင် "ဟစ်အော်သူ" ဟူသည်ကား မည်သူနည်း။
"ဟစ်အော်သူ" ကား ကောင်းကင်တမန်များအနက် ကောင်းကင်တမန်တပါး ဖြစ်သည်ဟူ၏။ကုရ်တုဗီ။

(၁) အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ အကွေ့အကောက်ကို ရှာဖွေခြင်းဟူသည် မှန်ကန်သော သာသနာနှင့် စပ်လျဉ်း၍ တင်ပြသောသက်သေသာဓကများတွင် ဒွိဟသံသယများ ထည့်သွင်းပေးခြင်းကိုဆိုလိုသည်။ကဗီရ်။

(၂) ထိုအုပ်စု ၂ ခု(ဝါ)ဂျန္နတ်သားများနှင့် ငရဲသားများ၏ စပ်ကြားတွင် အကာအကွယ်တခု (ဝါ) နံရံတခုရှိသည်။ ထိုနံရံ၏အကြောင်း ကုရ်အာန်ကျမ်းမြတ် (၅၇း၁၃)တွင်ပါရှိ၏။ ထိုနံရံရှိနေခြင်းအားဖြင့် ➤➤

وَإِذَا صُرِفَتْ أَبْصَارُهُمْ تِلْقَاءَ أَصْحَٰبِ النَّارِ قَالُوا رَبَّنَا لَا تَجْعَلْنَا مَعَ الْقَوْمِ الظَّٰلِمِينَ ﴿٤٧﴾

၄၇။ တဖန် ၎င်းတို့၏ မျက်စိများကို ဂျဟန္နမ် ငရဲသားတို့ဘက်သို့ လှည့်လိုက်သောအခါ ထိုသူများက "အိုး-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ဤမတရားကျူးလွန်သော သူတို့နှင့်အတူ ထားတော်မမူပါနှင့်" ဟု *လျှောက်ထား ပန်ကြား ကြလိမ့်မည်။* [၁]

وَنَادَىٰ أَصْحَٰبُ الْأَعْرَافِ رِجَالًا يَعْرِفُونَهُم بِسِيمَٰهُمْ قَالُوا مَا أَغْنَىٰ عَنكُمْ جَمْعُكُمْ وَمَا كُنتُمْ تَسْتَكْبِرُونَ ﴿٤٨﴾

၄၈။ ၎င်းပြင် "အအ်ရာဖ်" ၌ ရှိသူတို့က အကြင် (များပြားစွာသော) သူတို့ကို ဟစ်ခေါ်ကြကုန်အံ့။ ၎င်းတို့သည် ထိုသူတို့အား ထိုသူတို့၏အမှတ်အသား ဖြင့် မှတ်မိကြကုန်အံ့။ (ထို့နောက်) ၎င်း(အမြင့်၌ရှိသူ) တို့က (ဤသို့)ပြောဆိုကြလတ္တံ့။ "အသင်တို့၏ အသင်းအဖွဲ့ လူစုများပြားခြင်းသည်လည်းကောင်း၊ အသင်တို့ မာန်မာနထောင်လွှားခြင်းသည်လည်း ကောင်း အသင်တို့အဖို့ အသုံးမဝင်ခဲ့ချေပြီတကား၊[၂]

➤➤ ဂျန္နတ်၏သုခချမ်းသာမှုများသည် ငရဲသို့ မရောက်နိုင်ပေ။ ငရဲ၏ဒုက္ခဆင်းရဲမှုများသည်လည်း ဂျန္နတ်သို့ မရောက်နိုင်ပေ။

ဂျန္နတ်နှင့် ဂျဟန္နမ်ငရဲ၏စပ်ကြားတွင် ယင်းကဲ့သို့ နံရံရှိနေပါလျက် ဂျန္နတ်သားများနှင့် ဂျဟန္နမ် ငရဲသားများသည် အချင်းချင်း အသို့လျှင် စကားပြောနိုင်ကြအံ့နည်းဟု စဉ်းစားဖွယ်ရာရှိသည်။ လင်းဦးအံ၊ အမှန်မှာ ကုရ်အာန်ကျမ်းမြတ် (၅၇း၁၃)တွင် ပါရှိသည့်အတိုင်း ထိုနံရံတွင် တံခါးပေါက်တခုရှိသည်။ ထိုတံခါး ပေါက်မှ စကားပြောဆိုခြင်း ဖြစ်ပေမည်။ သို့တည်းမဟုတ် (နံရံရှိနေပါလျက်)အသံသည် တဘက်မှ တဘက်သို့ ရောက်ရှိသွားသည်လည်း ဖြစ်ပေမည်။ ကြည့်-ထာနဝီ။ အ-၄၊ စ-၁၆-၁၇။

(၁) (က) "အအ်ရာဖ်" တွင်ရှိသော ပုဂ္ဂိုလ်များသည် မိမိတို့အား အလ္လာဟ်အရှင်မြတ်သည် ငရဲသားများနှင့် အတူတကွ ထားတော်မူမည် မဟုတ်ကြောင်းကို သိကြပေသည်။ သို့ပါလျက် ဤသို့ လျှောက်ထား ပန်ကြားခြင်းမှာ နှိမ့်ချကြို့ငဲ့ခြင်းသာ ဖြစ်သည်။

(ခ) အအ်ရာဖ်ရှိ ပုဂ္ဂိုလ်များသည် ဂျန္နတ်နှင့် ဂျဟန္နမ်၏စပ်ကြားတွင် ရှိနေကြသည့်အတွက်ကြောင့် ၎င်းတို့၏ အခြေအနေသည်လည်း မျှော်လင့်ခြင်းနှင့် ကြောက်ရွံ့ခြင်း၏ စပ်ကြားတွင်ပင် ဖြစ်ရှိနေပေမည်။ ၎င်းတို့သည် ဂျန္နတ်သားများအား တွေ့မြင်ကြသောအခါ (ဂျန္နတ်တွင်းသို့ဝင်ရန်) မျှော်လင့်ကြပေမည်၊ ဂျဟန္နမ်သားများအား တွေ့မြင်ကြသောအခါ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ပြီး ကျွန်တော်မျိုးတို့အား ငရဲသားများနှင့်အတူ ထားတော်မမူပါရန် ပန်ကြားလျှောက်ထားကြပေမည်။

أَهَٰؤُلَاءِ الَّذِينَ أَقْسَمْتُمْ لَا يَنَالُهُمُ اللَّهُ بِرَحْمَةٍ ۚ ادْخُلُوا الْجَنَّةَ لَا خَوْفٌ عَلَيْكُمْ وَلَا أَنتُمْ تَحْزَنُونَ ﴿٤٩﴾

၄၉။ (၎င်းပြင် အအ်ရာဖ်၌ရှိသူများက ဆက်လက်၍ပြောကြားကြဦးအံ့) ဤသူများကား အကြင်သူများပင်လော။ အသင်တို့သည် (ထိုသူတို့နှင့် ပတ်သက်၍) "အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့အပေါ် ကရုဏာပြုတော်မူလိမ့်မည်မဟုတ်ဟု ကျိန်တွယ်၍ ပြောဆိုခဲ့ကြလေသည်။ [၁] (သို့ရာတွင်မူကား၊ ၎င်းတို့နှင့်စပ်လျဉ်း၍) အသင်တို့သည် ဂျန္နတ် အမတသုခဘုံသို့ ဝင်ရောက်ကြလေကုန်။ (ထိုဂျန္နတ် အမတသုခဘုံတွင်) အသင်တို့အပေါ်၌ မည်သည့်စိုးရိမ်မှုမျှလည်း ရှိလိမ့်မည်မဟုတ်ပေ၊ ၎င်းပြင် အသင်တို့သည် ပူဆွေးကြရမည်လည်း မဟုတ်ချေ။ (ဟူသော အမိန့်တော်သည် ကျရောက်ခဲ့ချေပြီတကား။)

---

(၂) ကုရ်အာန်ကျမ်းမြတ် (၇:၄၆)တွင် ဖော်ပြပါရှိသည့်အတိုင်း အအ်ရာဖ်ရှိ ပုဂ္ဂိုလ်များသည် ဂျန္နတ်၌ ခံစားနေကြရသော ပုဂ္ဂိုလ်များအား မေတ္တာပို့စကား ပြောကြားကြသကဲ့သို့ ဂျဟန္နမ်၌ ခံစားနေကြရသော ပုဂ္ဂိုလ်များနှင့်လည်း စကားပြောဆိုကြ ဖြစ်သည်။

ကာဖိရ်များသည် ပစ္စုပ္ပန်ဘဝတွင် မိမိတို့၏ အင်အားများပြားမှု၊ အသင်းအဖွဲ့ ကြီးမားမှုကို အကြောင်းပြု၍ နဗီတမန်တော်များ၏ အမိန့်ဩဝါဒများကို နာခံခြင်းမပြု မောက်မာပလွှား ဝါကြွားခဲ့ကြ၏။ သို့ရာတွင် ၎င်းတို့အသင်းအဖွဲ့ ကြီးမားမှုနှင့် ၎င်း၏မောက်မာပလွှား ဝါကြွားမှုတို့သည် ကိယာမက်နေ့တွင်ကား ၎င်းတို့အဖို့ စိုးစဉ်မျှ အသုံးဝင်မည် မဟုတ်ပေ။ ထိုထိုသော ကာဖိရ်များသည် ဂျဟန္နမ်ငရဲသို့ လားကြပေမည်။ ငရဲတွင်းသို့ လားကြသည့်အခါ ၎င်းတို့အား၊ အအ်ရာဖ်ရှိ ပုဂ္ဂိုလ်များက ဤမုကဋ္ဌပါဌ်တော်တွင် ပါရှိသည့်အတိုင်း ပြောဆိုကြမည်ဖြစ်သည်။ ကြည့်-ထာနဝီ။ အ-၄၊ စ-၁၇။

(၁) အထက်တွင် ရေးသားခဲ့သည့်အတိုင်း ကာဖိရ်များသည် မိမိတို့၏ အင်အားကြီးမားမှု၊ အသင်းအဖွဲ့ များပြားမှုများကို အကြောင်းပြု၍ မောက်မာ ပလွှား ဝါကြွားခဲ့ကြ၏။ ယင်းသို့ မောက်မာပလွှား ဝါကြွားခဲ့ကြသည့် အတွက်ကြောင့်ပင် ထိုကာဖိရ်များသည် အချို့ ဥစ္စာစနမရှိ၊ ဆင်းရဲနွမ်းပါးခဲ့ကြသော မုအ်မင်န်တို့အား အထင်အမြင် သေးခဲ့ကြ၏။ ထိုကာဖိရ်များက "အလ္လာဟ် အရှင်မြတ်သည် ထို မုအ်မင်န်များအား ကရုဏာပြုတော်မူလိမ့်မည် မဟုတ်ဟု ကျိန်ဆို၍ပင် ပြောဆိုခဲ့ကြသေး၏။ ကြည့်-ကုရ်အာန်(၆:၅၃) ကာဖိရ်များက ငါတို့သည် ဥစ္စာစနေ ပေါကြွယ်ဝ၏။ သားသမီး များလည်း ပေါများ၏၊ ငါတို့သည် အပြစ်ဒဏ် ခံကြ ရမည် မဟုတ်ဟုလည်း ပြောဆိုခဲ့ကြ၏။ ကုရ်အာန် (၃၄ : ၃၅)။ သို့ရာတွင် အလ္လာဟ် အရှင်မြတ်၏ ကျေးဇူးတော်အဟုန်ဖြင့် လူ့လောကတွင် ကာဖိရ်တို့၏ အထင်သေး အမြင်သေး ခံခဲ့ကြရသော မုအ်မင်န် သူဆင်းရဲတို့သည် ဂျန္နတ်တွင် ကြောက်ရွံ့မှု၊ ပူဆွေးမှုကင်းစွာဖြင့် ခံစားလျက် ရှိကြပေသည်။ မောက်မာပလွှား ဝါကြွားခဲ့ကြသော ကာဖိရ်တို့ကား ဂျဟန္နမ်တွင်ခံစားလျက်ရှိကြပေမည်။ ထိုအခြင်းအရာကို အအ်ရာဖ်ရှိပုဂ္ဂိုလ်များ ဒိဋ္ဌမမြင် ➤➤

၅၀။ ၎င်းပြင် ငရဲသားတို့သည် ဂျန္နတ် အမတ သုခဘုံသားတို့အား "အသင်တို့သည် ကျွန်ုပ်တို့အပေါ် ရေအနည်းငယ်မျှကိုသော်လည်းကောင်း၊ အလ္လာဟ် အရှင်မြတ်က အသင်တို့အား ချီးမြှင့် ပေးသနား တော်မူသောစားသောက်ဖွယ် အချို့ကိုသော်လည်း ကောင်း၊ ပေးသနားကြပါ" ဟု ဟစ်အော်တောင်းခံကြ လတ္တံ့။ ထိုအခါ ယင်း(ဂျန္နတ် အမတသုခဘုံသား) တို့က "ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ထို (ရေနှင့်စားသောက်ဖွယ်) နှစ်ခုလုံးကိုပင် ကာဖိရ် မယုံမကြည် သွေဖည်ငြင်းပယ်သူတို့အပေါ် "ဟရာမ်" ဟူ၍တားမြစ်ထားတော်မူသည်ဟု ဖြေကြားကြကုန်အံ့။

وَنَادَىٰٓ أَصْحَٰبُ ٱلنَّارِ أَصْحَٰبَ ٱلْجَنَّةِ أَنْ أَفِيضُوا۟ عَلَيْنَا مِنَ ٱلْمَآءِ أَوْ مِمَّا رَزَقَكُمُ ٱللَّهُ ۚ قَالُوٓا۟ إِنَّ ٱللَّهَ حَرَّمَهُمَا عَلَى ٱلْكَٰفِرِينَ ﴿٥٠﴾

၅၁။ အကြင် (ကာဖိရ် မယုံမကြည် သွေဖည်ငြင်း ပယ်)သူတို့သည် မိမိတို့ ယုံကြည်လိုက်နာကြရမည် ဖြစ်သော) "ဒီန်" သာသနာတော်ကို ပျော်ရွှင်ဘွယ်ရာ နှင့် ကစားစရာများ ပြုလုပ်ခဲ့ကြကုန်၏။ ၎င်းပြင် ပစ္စုပ္ပန် လောကီဘဝ၌ အသက်ရှင်ခြင်းသည် ထို သူအား ဖြားယောင်းခဲ့လေသည်။

သို့ဖြစ်ပေရာယနေ့မူကား ထိုသူတို့သည် ဤ (ကိယာမတ် ခေါ် ရှင်ပြန်ထရမည့်)နေ့နှင့် ကြုံကြိုက် သည်ကို မေ့ပျောက်ခဲ့ကြဘိသကဲ့သို့လည်းကောင်း၊ ငါအရှင်မြတ်၏ ဒေသနာတော်များကို *ငြင်းပယ်ခဲ့ ကြဘိသကဲ့သို့* [၁] လည်းကောင်း၊ ငါအရှင်မြတ်သည် လည်း ထိုသူတို့အား *မေ့ပစ်ထားတော်မူအံ့။* [၂]

ٱلَّذِينَ ٱتَّخَذُوا۟ دِينَهُمْ لَهْوًا وَلَعِبًا وَغَرَّتْهُمُ ٱلْحَيَوٰةُ ٱلدُّنْيَا ۚ فَٱلْيَوْمَ نَنسَىٰهُمْ كَمَا نَسُوا۟ لِقَآءَ يَوْمِهِمْ هَٰذَا وَمَا كَانُوا۟ بِـَٔايَٰتِنَا يَجْحَدُونَ ﴿٥١﴾

➤➤ တွေ့မြင်ကြသောအခါ ဤပုက္ခပါဌ်တော်တွင် ပါရှိသည့်အတိုင်း ကာဖိရ်တို့အား ပြောဆို မေးမြန်းကြမည်ဖြစ်သည်။ ကြည့်-ထာနဝီ၊ အ-၄။ စ-၁၇။

① "ဂျုဟူဒ်" ဟူသည် ရိုးရိုး ငြင်းပယ်ခြင်း၊ အထင်မှား၊ အမြင်မှား၊ အတွေးမှား၍ ငြင်းပယ်ခြင်းမဟုတ် စိတ်တွင်းမှ အမှန်တရားကို သိပြီး ဖြစ်ပါလျှက် ဖွတ်တရွတ် ငြင်းပယ်ခြင်းကိုသာ ဆိုသည်။

وَلَقَدْ جِئْنٰهُمْ بِكِتٰبٍ فَصَّلْنٰهُ
عَلٰى عِلْمٍ هُدًى وَّرَحْمَةً
لِّقَوْمٍ يُّؤْمِنُوْنَ ﴿٥٢﴾

၅၂။ ဧကန်အမှန် ငါအရှင်မြတ်သည် ထိုသူတို့ထံ (အကြင်ကုရ်အာန်)ကျမ်းဂန် ခမ္မက္ခန်ကို [၁] ပို့တော်မူခဲ့လေသည်။ ငါအရှင်မြတ်သည် ထိုကျမ်းဂန်ကို (မိမိ) သဗ္ဗညုတဉာဏ်တော်ဖြင့် ရှင်းလင်း ဖော်ပြတော်မူခဲ့သည်။ (ထိုကျမ်းဂန်သည်) အီမာန်သက်ဝင်ယုံကြည်သော မုအ်မင်န်များအဖို့ တရားလမ်းညွှန်လည်းဖြစ်သည်။ ကရုဏာတော်လည်း ဖြစ်သည်။

هَلْ يَنْظُرُوْنَ اِلَّا تَاْوِيْلَهٗ ۗ
يَوْمَ يَاْتِيْ تَاْوِيْلُهٗ يَقُوْلُ
الَّذِيْنَ نَسُوْهُ مِنْ قَبْلُ قَدْ
جَآءَتْ رُسُلُ رَبِّنَا بِالْحَقِّ ۚ
فَهَلْ لَّنَا مِنْ شُفَعَآءَ فَيَشْفَعُوْا

၅၃။ ၎င်းတို့သည် ထို(ကုရ်အာန်)ကျမ်း(လာ အမိန့်တော်)၏ *နောက်ဆုံးအကျိုးကိုသာလျှင် စောင့်မျှော်လျက်ရှိကြကုန်သည်။* [၂] ထို(ကုရ်အာန်)ကျမ်း (လာအမိန့်တော်)၏နောက်ဆုံးအကျိုး ရောက်ရှိလာသောနေ့တွင် ထိုနေ့ကို ယခင်ကမေ့လျော့၍နေသောသူတို့က "ဧကန်စင်စစ် ကျွန်ုပ်တို့အရှင်မြတ်၏ရစူလ်တမန်တော်တို့သည် အမှန်ကိုသာ ယူဆောင်ခဲ့ကြလေသည်။

---

(၂) ထိုကာဖိရ်များကား အခြားမဟုတ် ၎င်းတို့သည် လိုက်နာကျင့်သုံးရမည်ဖြစ်သော "ဒီန်" သာသနာကိုပင် ပျော်ရွှင်စရာ ကစားစရာ ပြုလုပ်ထားခဲ့ကြ၏။ လောကီစည်းစိမ်များတွင် နစ်မွန်းပြီး နောင်တမလွန်ဘဝကို မေ့ထားခဲ့ကြ၏။ ငါ၏ ဒေသနာတော်များကို ငြင်းပယ်ခဲ့ကြ၏။ ထိုကာဖိရ်များသည် လောကီစည်းစိမ်များတွင် နစ်မွန်းပြီး နောင်တမလွန်ဘဝကို မေ့နေခဲ့ကြသကဲ့သို့ ယနေ့ ငါအရှင်မြတ်သည်လည်း ထိုကာဖိရ်များကို မေ့ပစ်ထားတော်မူမည်ဖြစ်သည်။ ထိုကာဖိရ်များသည် ငါ၏ ဒေသနာတော်များကို ငြင်းပယ်ခဲ့ကြကဲ့သို့ ယနေ့ ငါအရှင်မြတ်သည်လည်း ထိုကာဖိရ်များ၏ အသနားခံချက်များကို ငြင်းပယ်တော်မူမည်ဖြစ်သည်။

(၁) ဤမုက္ခပါဌ်တော်တွင် ပါရှိသော ကျမ်းဂန်ဟူသည် ကုရ်အာန်ကျမ်းကို ဆိုလိုသည်။ ယင်းကျမ်းမြတ်သည် သဗ္ဗညုတဉာဏ်တော်ရှင် အလ္လာဟ်အရှင်မြတ်သည် ထုတ်ပြန်ချမှတ်တော်မူသော ကျမ်းဂန်ဖြစ်သည်။ ယင်းကျမ်းမြတ်သည် ကမ္ဘာအဝှန်းအဖို့ဖြစ်သည်။ ယင်းကျမ်းမြတ်တွင် လိုအပ်သမျှသော အချက်အလက်များ အသိပညာများ လိုလေသေးမရှိ အတိအကျ အပြည့်အဝပါရှိ၏။ သို့ပါလျက် သွေဖည်ငြင်းဆန် မနာခံကြသော ကာဖိရ်များသည် ထိုကျမ်းမြတ်ဖြင့်အကျိုးမခံစားကြပေ။ မိမိတို့၏နောင်ရေးကိုလည်း မတွေးကြပေ။ အီမာန်သက်ဝင်ယုံကြည်သော မုအ်မင်န်များသာလျှင် ထိုကျမ်းမြတ်လာ ဒေသနာတော်များကို ဦးထိပ်ရွက် ပန်ဆင်ကြ၏။ "ထိုကျမ်းမြတ်ဖြင့် အကျိုးအမျိုးမျိုးကိုလည်း ခံစားကြ၏။ ထို့အတွက်ကြောင့်ပင် ဤမုက္ခပါဌ်တော်တွင် ထိုကျမ်းမြတ်သည် မုအ်မင်န်များအဖို့ တရားလမ်းညွှန်လည်း ဖြစ်သည်။ ကရုဏာတော်လည်း မည်သည်" ဟူ၍ မိန့်ဆိုထားတော်မူခြင်း ဖြစ်သည်။

لَنَآ اَوۡ نُرَدُّ فَنَعۡمَلَ غَيۡرَ الَّذِىۡ كُنَّا نَعۡمَلُ ‌ؕ قَدۡ خَسِرُوۡۤا اَنۡفُسَهُمۡ وَضَلَّ عَنۡهُمۡ مَّا كَانُوۡا يَفۡتَرُوۡنَ ۝٥٣

သို့ဖြစ်ပေရာ (ယခုသော်)ကျွန်ုပ်တို့အဖို့ ကြားဝင်တောင်းပန်မည့်သူ ရှိပါဦးမည်လော။ သို့ရှိပါလျှင် ထိုသူတို့သည် ကျွန်ုပ်တို့အဖို့ ကြားဝင်တောင်းပန်၍ ပေးကြအံ့။ သို့တည်းမဟုတ် ကျွန်ုပ်တို့သည် (ကမ္ဘာလောကသို့) ပြန်လွှတ်ခြင်းကို ခံကြရပါဦးမည်လော။ သို့ပြန်လွှတ်ခြင်းကို ခံကြရပါလျှင် ကျွန်ုပ်တို့သည် မိမိတို့ပြုလုပ်ခဲ့ကြသည့်အရာ (မကောင်းမှု)တို့နှင့် ဆန့်ကျင်၍ (ကောင်းမှုများကိုသာ)ပြုလုပ်ကြကုန်အံ့" ဟု (ညည်းညူ) ပြောဆိုကြလတ္တံ့။ [၁]

ထိုသူတို့သည် ဧကန်မလွဲ မိမိတို့ကိုယ်ကို နစ်နာဆုံးရှုံးအောင် ပြုလုပ်ခဲ့ချေပြီ။ ၎င်းပြင် ထိုသူတို့ ကြံဖန်လီဆယ်၍ ပြောဆိုခဲ့ကြသည်များလည်း ထိုသူတို့ထံမှ ပျောက်ကွယ်သွားကြချေပြီတကား။

اِنَّ رَبَّكُمُ اللّٰهُ الَّذِىۡ خَلَقَ السَّمٰوٰتِ وَالۡاَرۡضَ فِىۡ سِتَّةِ اَيَّامٍ ثُمَّ اسۡتَوٰى عَلَى الۡعَرۡشِ يُغۡشِى الَّيۡلَ النَّهَارَ

၅၄။ ဧကန်စင်စစ် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည်ကား ထိုအလ္လာဟ် အရှင်မြတ်ပင်တည်း။ [၂] ထိုအလ္လာဟ်အရှင်မြတ် သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ခြောက်ရက်တွင် [၃] (ပြီးစီးအောင်) ဖန်ဆင်းတော်မူခဲ့၏။

(၂) သဗ္ဗညုတဉာဏ်တော်ရှင် အလ္လာဟ်အရှင်မြတ်သခင်ထံတော်မှ ကုရ်အာန်ကျမ်းမြတ်ကဲ့သို့သော ပြည့်ဝစုံလင် ထင်ရှားပေါ်လွင်သော ကျမ်းမြတ်လည်း အသင့်ရှိချေပြီ။ အမှန်တရားလည်း ထင်ရှားပြီးဖြစ်၏။ သက်သေသာဓကအထောက်အထား အကိုးအကားများလည်း အပြည့်အစုံ ရှိပြီးဖြစ်၏။ သို့ပါလျက် ကာဖိရ်များသည် ဖွတ်မိတ်၍ပင် ငြင်းဆန်လျက်ရှိသည်မှာ ၎င်းတို့သည် အခြားတစုံတရာကို စောင့်မျှော်နေကြသည် မဟုတ်။ ကုရ်အာန်ကျမ်းမြတ်တွင် ကာဖိရ်များနှင့်ထားရှိသော ကတိ၏နောက်ဆုံး အကျိုးတရားတည်းဟူသော အပြစ်ဒဏ်ကိုသာ စောင့်မျှော်နေကြခြင်း ဖြစ်သည်။

(၃) ကုရ်အာန်ကျမ်းမြတ်တွင် ဖော်ပြပါရှိသည့်အတိုင်း နောက်ဆုံးအကျိုးတရား ထွက်ပေါ်လာမည့်နေ့ (ဝါ) ကိယာမတ်နေ့တွင် ကာဖိရ်များသည် မိမိတို့၏ မှားယွင်းမှုများကို မျက်ဝါးထင်ထင် တွေ့မြင်ကြရသောအခါ ဤမုက္ခပါဌ်တော်တွင် ပါရှိသည့်အတိုင်း ဝန်ခံကြမည်။ ကယ်တင်မည့်သူကို ရှာကြမည်။ မကောင်းမှုများ ➢➢

➤➤ အစား ကောင်းမှုများကို ပြုလုပ်နိုင်ရန်အတွက် လူ့လောကသို့ တဖန်ပြန်လိုကြမည်။ သို့ရာတွင် ၎င်းတို့၏ ဝန်ခံမှုသည် အကျိုးဖြစ်ထွန်းစေမည် မဟုတ်။ ၎င်းတို့အား ကယ်တင်မည့်သူဟူ၍လည်း တဦးတယောက်မျှ ရှိမည်မဟုတ်။ လူ့လောကသို့ ပြန်လာခွင့်လည်း ရရှိကြမည်မဟုတ်ပေ။ အမှန်မှာ ထိုကာဖိရ်များသည် မိမိတို့ကိုယ်ကို မိမိတို့ပင် နစ်နာဆုံးရှုံးအောင် ပြုလုပ်ကြသူများ ဖြစ်ကြပေသည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၆း၂၇-၃၀)တွင်၎င်း၊ (၂၆း၁၀၂)တွင်၎င်း မိန့်ဆိုထားတော်မူသည်။

(၂) ထုထည်ကြီးမားလှသော မိုးများနှင့်မြေများသည် ကိုးကွယ်ရာများ မဟုတ်ပေ။ ထိုမိုးမြေများနှင့် ကမ္ဘာအဝှန်းကို ဖန်ဆင်းမွေးမြူသော အလ္လာဟ်အရှင်မြတ်သည်သာလျှင် တပါးတည်းသော ကိုးကွယ်ခြင်း ခံထိုက်တော်မူသော အရှင်မြတ် ဖြစ်တော်မူသည်။ ထိုမိုးများနှင့် မြေများသည် ကိုးကွယ်ရာဖြစ်ရန်ဝေးစွ၊ ၎င်းတို့တွင် မိမိတို့ကိုယ်ကို မိမိတို့ကိုယ်တိုင် ဖြစ်ပေါ်စေနိုင်သည့် အစွမ်းသတ္တိပင် မရှိပေ။အမှန်မှာ ထိုမိုးများနှင့် မြေများသည် အလ္လာဟ်အရှင်မြတ် ဖန်ဆင်းထားတော်မူသော အခြားအခြားသော အဖန်ဆင်းခံ အရာများကဲ့သို့ အဖန်ဆင်းခံ အရာများသာလျှင် ဖြစ်ပေသည်။ ကြည့်-မာဂျိဒီ၊ အ-၂။ စ-၃၃၆။ အအ-၇၅။

(၃) အလ္လာဟ်အရှင်မြတ်သည် မိုးများနှင့်မြေကို ခြောက်ရက်တွင် ဖန်ဆင်းတော်မူသည့်အကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် ခုနစ်နေရာ၌ တွေ့ရှိရပေသည်။ ကြည့်-ကုရ်အာန် (၇း၅၄၊ ၁၀း၃၊ ၁၁း၇၊ ၂၅း၅၉၊ ၃၂း၄၊ ၅၀း၃၈၊ ၅၇း၄)

> "ခြောက်ရက်" ဟူသည် ခြောက်ရက်မျှ အချိန်ပိုင်းကို ဆိုလိုသည်။ ဤအသုံးအနှုန်းသည် ကုရ်အာန် (၁၉း၆၂) တွင် "ထိုဂျန္နတ်၌ ဂျန္နတ်သားများအဖို့ နံနက်ချိန်နှင့် ညနေချမ်းအချိန်များတွင် စားဖွယ်သောက်ဖွယ်များ ရှိသည်။" ဟူသော မုက္ခပါဌ်တော်တွင် "နံနက်" "ညနေချမ်း" ဟူသောအသုံးအနှုံးကဲ့သို့ပင် ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် "ယောင်မ်" (နေ့)ဟူသည် နေထွက်ချိန်မှ နေဝင်ချိန်ထိ အချိန်ပိုင်းကို ခေါ်ဆိုသည်။ ဤသည်ကျော်ကြားသော အဓိပ္ပါယ်ပင်ဖြစ်သည်။ သို့ရာတွင် ဤမုက္ခပါဌ်တော်ရည်ညွှန်းသော ခေတ်တွင်ကား နေ၊လများပင် မရှိသေးချေ။ဤသည်"ရုဟ်" ကျမ်းလာစကားတည်း။
>
> (ထာနဝီ) အ-၄၊ စ-၁၉။

"ယောင်မ်" ဟူသည် ၂၄ နာရီ= ၁ ရက်ကို ဆိုလိုသည်မဟုတ်။ ယင်းသို့ဆိုရန်လည်း မဖြစ်နိုင်၊ အဘယ်ကြောင့်ဆိုသော် ၂၄ နာရီ= ၁ ရက် ဟူသည် ကမ္ဘာမြေကြီး၏ သွားလာလှုပ်ရှားမှု သို့မဟုတ် နေ၏ သွားလာလှုပ်ရှားမှု အကျိုး၊ ထိုသွားလာလှုပ်ရှားမှုကို အကြောင်းပြု၍ သတ်မှတ် ပိုင်းခြားထားသော အချိန်ပိုင်းသာ ဖြစ်သည်။ ယခု ဤမုက္ခပါဌ်တော်တွင် မိန့်ဆိုထားတော်မူသော အကြောင်းအရာကား အကြင်ခေတ်၏ အကြောင်းအရာ ဖြစ်သည်။ ထိုခေတ်တွင် မိုး၊ မြေ၊ နေ၊ လများပင် မရှိသေးချေ။ သို့ဖြစ်ပေရာ မိုး၊ မြေ၊ နေ၊ လများ မရှိမီခေတ်နှင့် ပတ်သက်၍ သုံးနှုန်းထားသော "ယောင်မ်" ဟူသော အချိန်ပိုင်းကို ယခုခေတ် ၂၄ နာရီ တရက်ဟူ၍ ယူဆခြင်းသည် အသို့လျှင် ဖြစ်နိုင်အံ့နည်း။ အလျင်းမဖြစ်နိုင်ပေ။

ထို့ပြင်တဝ အရဗီဘာသာစာပေတွင် "ယောင်မ်" ဟူသည် (နေထွက်သည့်အချိန်မှ နေဝင်သည့် အချိန်အထိ) ၁ ရက်ဟူသော အချိန်ပိုင်းကိုလည်း ဆို၏။ အချိန်ပိုင်းတိုင်းကိုလည်း ဆို၏။

ဤမုက္ခပါဌ်တော်တွင် "ယောင်မ်" ဟူသည် အချိန်ပိုင်းတိုင်းကို ဆိုလိုသည်။ "ခြောက်ရက်တွင်" ဟူသည်ကား ခေတ်ခြောက်ခေတ် အသီးသီးတွင်ဟူ၍သော် လည်းကောင်း ဖြစ်ပေါ်လာခြင်း၏ အဆင့် ခြောက်ဆင့်ဖြင့် ဟူ၍သော်လည်းကောင်း ဖြစ်၏။ မာဂျိဒီ။

يَطْلُبُهٗ حَثِيْثًا ۙ وَّالشَّمْسَ وَالْقَمَرَ وَالنُّجُوْمَ مُسَخَّرٰتٍۭ بِاَمْرِهٖ ؕ اَلَا لَهُ الْخَلْقُ وَالْاَمْرُ ؕ تَبٰرَكَ اللّٰهُ رَبُّ الْعٰلَمِيْنَ ﴿٥٤﴾

ထိုနောက် ထိုအရှင်မြတ်သည် အရ်ရှ်ပလ္လင်တော်ထက်၌စံမြန်းတော်မူခဲ့လေသည်။ ထိုအရှင်မြတ်သည် နေ့ကို ညဥ့်ဖြင့် ဖုံးအုပ်တော်မူလေသည်။ [၁] ထိုညဥ့်သည် ၎င်းနေ့၏နောက်မှ လျှင်မြန်စွာရောက်ရှိလာလေသည်။ ၎င်းပြင် (ထိုအရှင်မြတ်သည်ပင်လျှင်) နေကိုလည်းကောင်း၊ လကိုလည်းကောင်း၊ ကြယ်နက္ခတ်တို့ကိုလည်းကောင်း၊ မိမိ သြဇာခံများအဖြစ် (ဖန်ဆင်းတော်မူခဲ့လေသည်။)

ဖန်ဆင်းမှုသည်လည်းကောင်း အမိန့်အာဏာတော်သည်လည်းကောင်း၊ ထိုအရှင်မြတ်၌သာလျှင်ရှိသည်ကို ကောင်းစွာမှတ်ယူကြလေကုန်။ စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်သည် မင်္ဂလာအပေါင်းနှင့် ပြည့်စုံတော်မူချေသတည်း။ [၂]

---

(၁) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် ညဥ့်၏အမှောင်ကို နေ၏ အလင်းရောင်ဖြင့်သော်၎င်း၊ နေ၏အလင်းရောင်ကို ညဥ့်၏အမှောင်ဖြင့်သော်၎င်း ဖုံးအုပ်တော်မူသည်ဟူ၏။ ဤသို့အားဖြင့် နေ့နှင့်ညဥ့်သည် တခုကိုတခု အစဉ်မပြတ် မီတွယ်လိုက်ကပ်လျက် ဆောလျင်စွာ သွားလာလျက်ရှိပေသည်။ နေ့ကုန်လျှင် ညဥ့်ဆိုက်ရောက်လာ၏။ ညဥ့်ကုန်လျှင် နေ့ဆိုက်ရောက်လာ၏။ စပ်ကြားတွင် တမိနစ်ခန့် မျှပင် ရပ်နားခွင့်မရှိပေ။

နေ့နှင့်ညဥ့်၏ သွားလာမှုကို အကြောင်းပြု၍ လူသားတို့အား သတိပေးထားတော်မူဟန် တူသည်မှာ သေွဖည် ငြင်းဆန်မနာခံမှု၊ လမ်းမှားမှု၊ ညှဉ်းပန်းနှိပ်စက်မှု ၊မတရား ကျူးကျော်စော်ကားမှု တည်းဟူသော ညဥ့်မှောင်ကြီးသည် ကမ္ဘာ့အဝှမ်းကို ဖုံးလွှမ်းလာသည့်အခါ အလ္လာဟ်အရှင်မြတ်သည် "အီမာန်" တည်းဟူသောနေဖြင့် ကမ္ဘာအဝှမ်းတွင် လင်းဝင်းစေတော်မူသည်။ နေ၏လင်းရောင်သည် ကမ္ဘာ့အဝှမ်းသို့ မပြန့်နှံ့ သေးမီ အတောအတွင်း "နဗူဝသ်" တည်းဟူသော လစန္ဒာ၊ ကြယ်တာရာတို့ဖြင့် ညဥ့်၏ အမှောင်တွင် လင်းရောင်ပေး၍ လမ်းညွှန်ပြတော်မူသည်ဟူလို။

"ဟဆ္ဆ" ဟူသော ပုဒ်သည် လျှင်မြန်စွာ ပြုလုပ်ခြင်း အနက်ပေးသည်။(မာဂျိဒီ)
ထိုညဥ့်သည် ထိုနေ့ကို ပျက်ကွက်မှုမရှိဘဲ အမြဲတစေ မီတွယ်လိုက်ကပ်လျက်ရှိသည်ဟူ၏။ (ကုရ်တုဗီ)

ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်။ (၃၆း ၃၇-၄၀)ကို ဆက်လက်၍ ရှုပါကုန်။

အလ္လာဟ် အရှင်မြတ်၏ အမိန့်တော် မပါဘဲလျက် မည်သည့် ဂြိုလ်မျှ လှုပ်ရှား သွားလာနိုင်သည် မဟုတ်ချေ။ ဂြိုလ်အားလုံးတို့သည် ထိုအရှင်မြတ်၏ အမိန့်တော်ဖြင့်သာ သွားလာ လှုပ်ရှားလျက်ရှိပေသည်။

ادْعُوا رَبَّكُمْ تَضَرُّعًا وَخُفْيَةً ۚ إِنَّهُ لَا يُحِبُّ الْمُعْتَدِينَ ﴿٥٥﴾

၅၅။ အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူ တော်မူသော အရှင်မြတ်အထံတော်၌ နိဝါတတရား ထားရှိ၍ တီးတိုးစွာ *ဆုတောင်းပတ္ထနာပြုကြလေကုန်၊*[၁] ဧကန်စင်စစ် ထိုအရှင်မြတ်သည် စည်းကမ်းကျူးလွန် ဖောက်ဖျက်သူတို့အား နှစ်မြို့တော်မူသည် မဟုတ်ချေ။

وَلَا تُفْسِدُوا فِي الْأَرْضِ بَعْدَ إِصْلَاحِهَا وَادْعُوهُ خَوْفًا وَطَمَعًا ۚ إِنَّ رَحْمَتَ اللَّهِ قَرِيبٌ مِّنَ الْمُحْسِنِينَ ﴿٥٦﴾

၅၆။ ၎င်းပြင် အသင်တို့သည် ကမ္ဘာမြေပြင်ကို တင့်တယ်ကောင်းမွန်အောင် ပြုလုပ်ပြီးသည့်နောက် ထိုကမ္ဘာမြေပြင်၌ *ပျက်စီးရာ ပျက်စီးကြောင်းကို မပြုလုပ်ကြကုန်လင့်။*[၂] ထို့ပြင်အသင်တို့သည် ထို အရှင်မြတ်ကို *ကြောက်ရွံ့စွာဖြင့်၎င်း၊ မျှော်လင့်ချက် ထားကာဟစ်ခေါ်ကြလေကုန်။*[၃] စင်စစ်ဧကန်အလ္လာဟ် အရှင်မြတ်၏ ကရုဏာတော်သည်ကား ကောင်းမှု ပြုသူတို့နှင့် အလွန်နီးကပ်လျက်ရှိပေသတည်း။

---

⑵ ကမ္ဘာအဝှမ်းကို ဖန်ဆင်းတော်မူခြင်းသည် "ခလိက်" မည်၏။ ထို့နောက် "တက္ကဝိနီ" သဘောအားဖြင့် သော်၎င်း၊ "တရှ်ရီအီ" သဘောအားဖြင့်သော်၎င်း၊ အမိန့်ပေးတော်မူခြင်းသည် "အမ်ရ်" မည်၏။ ထိုသို့ဖန်ဆင်းမှုနှင့် အမိန့်ပေးမှု ဂုဏ်တော် ၂-ပါးလုံးသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာလျှင် တည်ရှိပေသည်။ ဤသို့အားဖြင့် ကမ္ဘာအဝှမ်း၏အရှင်၊ အလ္လာဟ်အရှင်မြတ်သခင်သည် ကောင်းချီးမင်္ဂလာ အဖြာဖြာ တန်ခိုးအာဏာ အဖုံဖုံတို့ဖြင့် ပြည့်စုံတော်မူပေသတည်း။

⑴ ဤမုက္ခပါဌ်တော်တွင် အချိန်မရွေး၊ အခါမရွေး၊ ကြီးငယ်မရွေး၊ အလိုရှိသမျှသော အရာများကို မိမိတို့အား မွေးမြူဖန်ဆင်းတော်မူသော အလ္လာဟ်အရှင်မြတ်၏ အထံတော်တွင် ဆုပန်ကြားနိုင်ခွင့် ပြုထားတော်မူသည်။ သို့ရာတွင် ဆုပန်ကြားရာ၌ "ရှရီအတ်" တရားဥပဒေနှင့် မဆန့်ကျင်ရပေ။ မဖြစ်နိုင်သော အရာများ၊ ဒုစရိုက်မှုများ မဖွယ်ရာသော ကိစ္စများ၊ အချည်းနှီးသော အရာများကိုကား ပန်ကြားခြင်း မပြုရ။

ဆုပန်ကြားရာတွင်လည်း ရိုသေလေးမြတ်၊ ကျိုးနွံတီးတိုးစွာ ပန်ကြားရမည်။ ဆုပန်ကြားရာတွင် အော်ဟစ်ခြင်းအလျှင်းမပြုရ။ အော်ဟစ်ခြင်းသည် ရိုင်းစိုင်းသော အမူအရာလည်းဖြစ်၏။ ပြစားမှု၏ လက္ခဏာ တရပ်လည်း ဖြစ်၏။ တီးတိုးစွာပြုလုပ်ခြင်းသည် ယဉ်ကျေးသိမ်မွေ့သော အမူအရာလည်း ဖြစ်၏။ စိတ်စေတနာ ဖြူစင်ခြင်း၏ နိမိတ်လက္ခဏာတစ်ရပ်လည်း ဖြစ်၏။ ဆုပန်ကြားရာတွင် တီးတိုးစွာဆုပန်ကြားရမည့် အကြောင်း၊ အော်ဟစ်ခြင်း မပြုရမည့်အကြောင်း တမန်တော်မြတ်၏ဩဝါဒများတွင် အများအပြား တွေ့ရှိရပေသည်။

**တမန်တော်မြတ်၏ဆုမွန်တပါး**

တမန်တော်မြတ်သည် အောက်ပါအတိုင်း ဆုမွန်တောင်းလေ့ ရှိသည်။ 

وَهُوَ الَّذِي يُرْسِلُ الرِّيَاحَ بُشْرًا بَيْنَ يَدَيْ رَحْمَتِهِ ۖ حَتَّىٰ إِذَا أَقَلَّتْ سَحَابًا ثِقَالًا سُقْنَاهُ لِبَلَدٍ مَّيِّتٍ فَأَنزَلْنَا بِهِ الْمَاءَ فَأَخْرَجْنَا

၅၇။ ၎င်းပြင် ထိုအရှင်မြတ်သည်ပင်လျှင် မိမိ ကရုဏာတော် (ဝါ) မိုးမရွာမီ လေများကို ရှေ့ပြေး သတင်းကောင်းအဖြစ် စေလွှတ်တော်မူသောအရှင် ဖြစ်တော်မူ၏။ နောက်ဆုံးတွင် ထိုလေများသည် လေးလံသော မိုးတိမ်များ သယ်ပိုးယူဆောင်လာ သောအခါ ငါအရှင်မြတ်သည် ထိုမိုးတိမ်များကို ခြောက်သွေ့လျက်ရှိသော မြို့ရွာဒေသသို့ မောင်းနှင် (ပို့ဆောင်) တော်မူ၏။

---

➤➤ အို- အလ္လာဟ်အရှင်မြတ်၊ စိုးမိုးခြင်းအပေါင်းသည် အရှင်မြတ်အဖို့သာ ဖြစ်ပါသည်။ ချီးမွမ်းခြင်းအပေါင်းသည်လည်း အရှင်မြတ်အဖို့သာ ဖြစ်ပါသည်။ အမိန့်အာဏာ အပေါင်း သည်လည်း အရှင်မြတ်အထံတော်၌သာလျှင် တည်ရှိပါသည်။ ကျွန်တော်မျိုးသည် အရှင်မြတ် ထံတော်တွင် ကောင်းခြင်းအဖြာဖြာကို ခံစားရပါရန် ပန်ကြားပါ၏။ ၎င်းပြင် ကျွန်တော်မျိုးသည် အရှင်မြတ်ထံတော်တွင် မကောင်းညစ်ကျူ အစုစုမှ ကင်းလွတ်ရပါရန် ခိုလှုံပါ၏။

ဤသည် သာဝကကြီး အဗူဒရ်ဒါထံမှတဆင့် ကြားသိရသည်။ ဤ "ရိ ဝါယတ်" သည် "မရ်ဖူအ်" လည်း ဖြစ်သည်။ အီဗ်နုကဆီရ်။

(၂) အဗုရ်ရှိုက်ခ်သည် အဗူဗတ်က်ရ် အီဗ်နုအိုင်ယာရ်ထံမှ တဆင့်ပြောကြားသည်မှာ အဗူဗဟ်က်ရ် အီဗ်နုအိုင်ယာရ် သည် ( وَلَا تُفْسِدُوا فِي الْأَرْضِ بَعْدَ إِصْلَاحِهَا ) ဟူသော မုက္ခပါဌ်တော်၏ အနက်သဘောနှင့် စပ်လျဉ်း၍ မေးမြန်းစုံစမ်းခြင်း ခံရသည့်အခါ ဤသို့ဖြေကြားလေသည်။

"အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား ကမ္ဘာသူ ကမ္ဘာသားများထံသို့ စေလွှတ်တော်မူခဲ့၏။ ထိုအချိန်တွင် ထိုကမ္ဘာသူ ကမ္ဘာသားများသည် ပျက်စီးလျက်ရှိကြ၏။ အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့ကို တမန်တော် မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား စေလွှတ်တော်မူ၍ ပြုပြင်ကောင်းမွန် စေတော်မူခဲ့၏။ သို့ဖြစ်ရာ အကြင်သူသည် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) ယူဆောင်လာတော်မူသော တရားဒေသနာတော်ကို ဆန့်ကျင်အံ့။ ထိုသို့သောသူသည် ကမ္ဘာမြေပြင်တွင် ပျက်စီးရာပျက်စီးကြောင်း ပြုလုပ်သောသူများတွင် အပါအဝင်ဖြစ်အံ့။

(အလ်မနာရ်)

(၃) အသင်တို့သည် ထို(အလ္လာဟ်)အရှင်မြတ်အား ကြောက်ရွံ့စွာဖြင့်လည်းကောင်း၊ မျှော်လင့်ချက် ထားရှိကာဖြင့် လည်းကောင်း၊ ဆုပန်ကြားကြလေကုန်" (ဝါ) အသင်တို့သည် အသင်တို့၏ အပြုအမူများ၏ ချို့တဲ့မှုကြောင့် လည်းကောင်း၊ မထိုက်တန်ကြသည့်အတွက်ကြောင့်လည်းကောင်း၊ အသင်တို့၏ ပန်ကြားချက်ကို ငြင်းပယ်တော် မူမည်ကို ကြောက်ရွံ့သူများအဖြစ်ဖြင့် (ဆုပန်ကြားကြကုန်။) ၎င်းပြင် အသင်တို့သည် ထိုအရှင်မြတ်၏ ကရုဏာတော် များပြားလှသည့်အတွက် ကျေးဇူးပြုတော်မူသောအားဖြင့် ပန်ကြားချက်ကို လက်ခံသဘောတူတော် မူမည်ကို မျှော်လင့်သူများ အဖြစ်ဖြင့် ဆုပန်ကြားကြကုန်ဟူ၏။

بِهِ مِن كُلِّ الثَّمَرَٰتِ ۚ كَذَٰلِكَ نُخْرِجُ الْمَوْتَىٰ لَعَلَّكُمْ تَذَكَّرُونَ ﴿٥٧﴾

ထို့နောက် ငါအရှင်မြတ်သည် ယင်းမိုးတိမ်ဖြင့် ရေကို ချပေးတော်မူ၏။ ထို့နောက် တဖန် ငါ အရှင်မြတ်သည် ထိုရေဖြင့် သစ်သီးဝလံမျိုးစုံတို့ကို ပေါက်ရောက်စေတော်မူ၏။ ဤနည်းအတိုင်းပင် ငါ အရှင်မြတ်သည် သူသေတို့အား (သင်းချိုင်းတွင်းမှ) ထွက်စေတော်မူအံ့။ သို့မှသာလျှင် အသင်တို့သည် တရားရကြကုန်အံ့။ [၁]

وَالْبَلَدُ الطَّيِّبُ يَخْرُجُ نَبَاتُهُ بِإِذْنِ رَبِّهِ ۖ وَالَّذِي خَبُثَ لَا يَخْرُجُ إِلَّا نَكِدًا ۚ كَذَٰلِكَ نُصَرِّفُ الْآيَاتِ لِقَوْمٍ يَشْكُرُونَ ﴿٥٨﴾

၅၈။ အမှန်သော်ကား (မြေသြဇာ) ကောင်းမွန်သန့်စင်သောမြေ၌၊ ထိုမြေမှ ၎င်းကိုဖန်ဆင်းတော်မူသောအရှင်မြတ်၏ အမိန့်တော်ဖြင့် ဟင်းသီးဟင်းရွက်၊ ကောက်ပဲသီးနှံများသည် (ကောင်းမွန်များပြားစွာ) ပေါက်ရောက်လေ၏။ သို့ရာတွင် (မြေသြဇာ) မကောင်းသောမြေမှာမူကား၊ အလွန်ခဲယဉ်းစွာ ပေါက်ရောက်လေ၏။ ငါအရှင်မြတ်သည် ဤနည်းအတိုင်းပင် သက်သေသာဓကများကို ကျေးဇူးသိတတ်သူတို့အဖို့ နည်းအမျိုးမျိုးဖြင့် မိန့်ကြားတော်မူလေသတည်း။ [၂]

---

(၁) ဤမုဗ္ဗာရက်ပါဌ်တော်ကို တွေးဆ၊ ဆင်ခြင် မျှော်မြင်ပါသော် အလ္လာဟ်အရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူကြောင်း၊ စံမတူ၊ တဆူတည်း တည်ရှိတော်မူကြောင်း၊ မြေသေကို ရှင်စေ၍ သစ်သီးဝလံ အမျိုးမျိုး ပေါက်ပွားစေနိုင်တော်မူသောအရှင်သည် သူသေများကိုလည်း ကိယာမတ်နေ့တွင် ပြန်လည်ရှင်ထစေတော်မူနိုင်ကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။ ကြည့်-ထာနဝီ။ အ-၄၊ စ-၂၀။

(၂) အလ္လာဟ်အရှင်မြတ်၏ တရားဒေသနာတော်များသည် လူသားတို့ အားလုံးအဖို့၊ တရားရယူရန် လုံလောက်ပေသည်။ ထိုတရားဒေသနာတော်များကို လူသားတဦးသည် ကြားနာ၍ အလ္လာဟ်အရှင်မြတ် တဆူတည်း ရှိတော်မူကြောင်း၊ နဗီတမန်တော်များသည် လူသားတို့အား တရားမေ့ ဟောကြားရန်အတွက် အလ္လာဟ်အရှင်မြတ် စေလွှတ်ထားတော်မူသော ပုဂ္ဂိုလ်မြတ်များ ဖြစ်ကြောင်း၊ ကိယာမတ်နေ့တွင် ပြန်လည်ရှင်ထကြရမည့်အကြောင်းနှင့် အခြားမှန်ကန်သော အချက်အလက်များကို ယုံကြည်လက်ခံ နာယူနိုင်ပေသည်။ သို့ရာတွင် လူသားတို့သည် အရည်အချင်းအားဖြင့် တဦးနှင့်တဦးမတူကြပေ။ အချို့တွင်အရည်အချင်းများ၏၊ အချို့တွင် အရည်အချင်းနည်း၏။ အချို့တွင် ညံ့ဖျင်း၏။ အချို့တွင် မရှိဖြစ်၏။ တရားဒေသနာတော်ကို လက်ခံနာယူရန် အရည်အချင်းရှိသော သူများသည် မိမိတို့၏အရည်အချင်းနှင့်အမျှ လက်ခံနာယူကြ၏။ အရည်အချင်းမရှိသော သူများကား ➢➢

لَقَدْ أَرْسَلْنَا نُوحًا إِلَىٰ قَوْمِهِۦ فَقَالَ يَٰقَوْمِ ٱعْبُدُوا۟ ٱللَّهَ مَا لَكُم مِّنْ إِلَٰهٍ غَيْرُهُۥٓ إِنِّىٓ أَخَافُ عَلَيْكُمْ عَذَابَ يَوْمٍ عَظِيمٍ ﴿٥٩﴾

၅၉။ စင်စစ်ကေန် ငါ အရှင်မြတ်သည် (နဗီတမန်တော်)နူဟ်ကို၊ ၎င်း၏အမျိုးသားတို့ထံ စေလွှတ်တော်မူခဲ့လေသည်။ ထိုအခါ ယင်း(နဗီတမန်တော်)နူဟ်က (မိမိအမျိုးသားတို့အား) အို-ငါ၏ အမျိုးသားအပေါင်းတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကိုသာလျှင် ခဝပ်ကိုးကွယ်ကြလေကုန်။ အသင်တို့၌ အလ္လာဟ်အရှင်မြတ်မှတပါး အခြားခဝပ်ကိုးကွယ်ရာ အလျဉ်းမရှိပြီ။ ငါသည် အသင်တို့အပေါ်၌ အလွန်ကြီးကျယ်သောနေ့၏ ပြစ်ဒဏ် (သက်ရောက်မည်)ကို မလွဲဧကန် စိုးရိမ်မိသည်ဟု ပြောကြားခဲ့လေသည်။

قَالَ ٱلْمَلَأُ مِن قَوْمِهِۦٓ إِنَّا لَنَرَىٰكَ فِى ضَلَٰلٍ مُّبِينٍ ﴿٦٠﴾

၆၀။ ထို(နဗီတမန်တော်နူဟ်)၏ အမျိုးသားတို့အနက်မှအကြီးအကဲတို့က "ဧကန်မလွဲ ကျွန်ုပ်တို့သည် အသင်(နူဟ်)အား၊ ထင်ရှားလှစွာသော မှောက်မှားမှုတွင် (ကျရောက်နေသည်ကို) တွေ့မြင်နေရပါသည်ဟု ပြောဆိုကြကုန်၏။

قَالَ يَٰقَوْمِ لَيْسَ بِى ضَلَٰلَةٌ وَلَٰكِنِّى رَسُولٌ مِّن رَّبِّ ٱلْعَٰلَمِينَ ﴿٦١﴾

၆၁။ ထိုအခါ ၎င်း(နဗီတမန်တော်နူဟ်)က "အို-ငါ၏အမျိုးသားအပေါင်းတို့ ငါ၌မှောက်မှားမှုသည် အလျဉ်းမရှိပါ။ အမှန်စင်စစ်သော်ကားငါသည် စကြာဝဠာခပ်သိမ်းကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်မှစေလွှတ်တော်မူသောရစူလ်တမန်တော်တပါးသာဖြစ်ပေသည်ဟု ဖြေကြားခဲ့လေသတည်း။

➤➤ တရားဒေသနာတော်ကို မနာခံ၊ သွေဖည်ငြင်းဆန်ကြ၏။ ဤသည့်သဘောကို ဤမုဂ္ဂပါဌ်တော် (၇:၅၈)ကို စဉ်းစားဆင်ခြင်ပါ သိနိုင်ပေသည်။ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတည်းဟူသော မိုးသည် နေရာအနှံ့အပြားတွင် ရွာသွန်း၏။ မြေဩဇာကောင်းသော နေရာတွင်လည်း ရွာ၏။ မြေဩဇာ ညံ့ဖျင်းသော နေရာတွင်လည်း ရွာ၏။ သို့ရာတွင် မြေဩဇာကောင်းသောမြေတွင် ထိုမိုးရေဖြင့် အသီးအနှံများသည် ကောင်းမွန်များပြားစွာ ဖြစ်မြောက်၏။ မြေဩဇာညံ့ဖျင်းသော မြေတွင်ကား မိုးရည်ရရှိငြားသော်လည်း အသီးအနှံ မဖြစ်ထွန်းပေ။ ဖြစ်ထွန်းပါကလည်း အနည်းငယ်သာ ဖြစ်ထွန်း၏။ တရားဒေသနာတော်သည် မိုးရည်နှင့်အလား သဏ္ဍာန်တူ၏။ လူသားတို့သည် မြေနှင့်အလားသဏ္ဍာန်တူ၏။ ကြည့်-ထာနဝီ၊ အ-၄။ စ-၂၀။

أُبَلِّغُكُمْ رِسَالَاتِ رَبِّي وَأَنْصَحُ لَكُمْ وَأَعْلَمُ مِنَ اللَّهِ مَا لَا تَعْلَمُونَ ﴿٦٢﴾

၆၂။ ငါသည် မိမိအရှင်မြတ် မှာကြားလိုက်သော အမိန့်တော်များကို အသင်တို့ထံ ပို့ဆောင်ပါသည်။ ၎င်းပြင် ငါသည် အသင်တို့၏အကျိုးကိုလည်း လိုလားပါသည်။ ထို့ပြင်တဝ ငါသည် အလ္လာဟ် အရှင်မြတ်အထံတော်မှ အသင်တို့ မသိနားမလည် သော အရာများကိုလည်း သိရှိပါသည်။

أَوَعَجِبْتُمْ أَنْ جَاءَكُمْ ذِكْرٌ مِنْ رَبِّكُمْ عَلَىٰ رَجُلٍ مِنْكُمْ لِيُنْذِرَكُمْ وَلِتَتَّقُوا وَلَعَلَّكُمْ تُرْحَمُونَ ﴿٦٣﴾

၆၃။ အသင်တို့သည် မိမိတို့ အရှင်မြတ်အထံ တော်မှ မိမိတို့အနက်မှ *လူတဦးမှတဆင့် အသင်တို့ထံ ဆုံးမဩဝါဒတော် ရောက်ရှိလာသည်ကိုပင် အံ့ဩ ကြပါသလော။* [၁] (အမှန်စင်စစ်သော်ကား ထိုပုဂ္ဂိုလ် သည်) အသင်တို့အား သတိပေးနှိုးဆော်ရန်လည်း ကောင်း၊ ပြစ်မှုဒုစရိုက်များမှ ကြဉ်ရှောင်ကြရန်လည်း ကောင်း၊ (ဖြစ်ပေသည်။) သို့မှသာလျှင် အသင်တို့သည် (ထိုအရှင်မြတ်၏) ကရုဏာတော်ကို ခံစားနိုင်ကြအံ့သတည်း။

فَكَذَّبُوهُ فَأَنْجَيْنَاهُ وَالَّذِينَ مَعَهُ فِي الْفُلْكِ وَأَغْرَقْنَا الَّذِينَ كَذَّبُوا بِآيَاتِنَا ۚ إِنَّهُمْ كَانُوا قَوْمًا عَمِينَ ﴿٦٤﴾

၆၄။ သို့ပါလျက် ၎င်း(နဗီတမန်တော်နူဟ်၏ အမျိုးသား)တို့သည် ၎င်း(နဗီတမန်တော်နူဟ်)အား မဟုတ်မမှန်ဟု ငြင်းပယ်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် (နဗီတမန်တော်နူဟ်)အား လည်း ကောင်း။ ယင်း(နဗီတမန်တော်နူဟ်)နှင့်အတူတကွ သင်္ဘောပေါ်ပါရှိသူတို့အားလည်းကောင်း၊ ကယ်ဆယ် တော်မူခဲ့လေသည်။

---

(၁) အသိအလိမ္မာ ဉာဏ်ပညာ နည်းပါးသော မုရှ်ရစ်က်များသည် "အောင်တာရ်" ခေါ်ဘုရားများကို လက်ခံနိုင်ခဲ့ကြ၏။ ဘုရားသခင်သည် သတ္တဝါ တစုံတခု၏ ကိုယ်ခန္ဓာတွင် သက်ဝင်သည်ဟူ၍ လည်း လက်ခံနိုင်ခဲ့ကြ၏။ သို့ရာတွင် ယင်းမုရှ်ရစ်က်တို့သည် လူသားတို့အနက် စိတ်စေတနာ မြင့်မြတ်ထူးကဲသည့် အရည်အချင်း ရှိသော ပုဂ္ဂိုလ်တဦးတယောက်မှတဆင့်၊ အလ္လာဟ်အရှင်မြတ်က မိမိ၏ ဒေသနာတော်များကို ဟောကြားတော်မူသည်ကိုကား နားမလည်နိုင်ခဲ့ကြပေ။

သို့ရာတွင် အရှင်မြတ်၏ဒေသနာတော်များကို ငြင်းပယ်သောသူတို့အားမူကား နစ်မြုပ်စေတော်မူခဲ့၏။ အမှန်စင်စစ်သော်ကား၊ ၎င်းတို့သည် စက္ခုအလင်း (ဝါ) အသိအမြင် ကင်းမဲ့သော သူများပင်ဖြစ်ခဲ့ကြကုန်သတည်း။

وَإِلَىٰ عَادٍ أَخَاهُمْ هُودًا ۗ قَالَ يَٰقَوْمِ ٱعْبُدُوا۟ ٱللَّهَ مَا لَكُم مِّنْ إِلَٰهٍ غَيْرُهُۥٓ ۚ أَفَلَا تَتَّقُونَ ﴿٦٥﴾

၆၅။ ထိုနည်းတူစွာ (ငါအရှင်မြတ်သည်) အာဒ်အမျိုးသားတို့ထံ ၎င်းတို့၏ညီအစ်ကို သားချင်းဖြစ်သော (နဗီတမန်တော်) "ဟူဒ်" ကို (စေလွှတ်တော်မူခဲ့လေသည်။) ထိုအခါ ယင်း(နဗီတမန်တော် "ဟူဒ်" က "အို-ငါ၏အမျိုးသားအပေါင်းတို့၊ သင်တို့သည် အလ္လာဟ်အရှင်မြတ်ကိုသာလျှင် ခဝပ်ကိုးကွယ်ကြလေကုန်။ အသင်တို့၌ ထိုအလ္လာဟ်အရှင်မြတ်မှတပါး ခဝပ်ကိုးကွယ်ရာဟူ၍ အလျှင်းမရှိပြီ။ သို့ပါလျက် အသင်တို့သည် မကြောက်ရွံ့ကြပါသလော" ဟု ဟောကြားခဲ့လေသတည်း။

قَالَ ٱلْمَلَأُ ٱلَّذِينَ كَفَرُوا۟ مِن قَوْمِهِۦٓ إِنَّا لَنَرَىٰكَ فِى سَفَاهَةٍ وَإِنَّا لَنَظُنُّكَ مِنَ ٱلْكَٰذِبِينَ ﴿٦٦﴾

၆၆။ (ထိုအခါ) ယင်း(နဗီတမန်တော် ဟူဒ်)၏ အမျိုးသားတို့အနက် သွေဖည်ငြင်းပယ်ကြသော အကြီးအကဲတို့က "ဧကန်စင်စစ် ကျွန်ုပ်တို့သည် အသင့်အား အသိဉာဏ်နည်းပါးမှုတွင် (ကျရောက်နေသည်ကို)တွေ့မြင်နေကြပါသည်။ ၎င်းပြင်မုချဧကန် ကျွန်ုပ်တို့သည်အသင့်အား ပြောဆိုသူတို့တွင် ပါဝင်သည်ဟူ၍လည်း ထင်မြင်ယူဆကြသည်" ဟု ပြောဆိုကြကုန်သတည်း။

قَالَ يَٰقَوْمِ لَيْسَ بِى سَفَاهَةٌ وَلَٰكِنِّى رَسُولٌ

၆၇။ (ထိုအခါ) ယင်း(နဗီတမန်တော်ဟူဒ်)က 'အို-ငါ၏အမျိုးသားတို့၊ ငါ၏အသိဉာဏ်နည်းပါးမှုသည် လုံးဝမရှိ။ အမှန်စင်စစ်သော်ကားငါသည် စကြာဝဠာခပ်သိမ်းတို့ကို ပြုစုပျိုးထောင်တော်မူသော အရှင်မြတ်

مِّن رَّبِّ الْعَالَمِينَ ﴿٦٧﴾

အထံတော်မှစေလွှတ်တော်မူခြင်းခံရသော ရစူလ်တမန်တော်ပင်ဖြစ်ချေသည်" ဟု ဖြေကြားခဲ့လေသည်။

أُبَلِّغُكُمْ رِسَالَاتِ رَبِّي وَأَنَا لَكُمْ نَاصِحٌ أَمِينٌ ﴿٦٨﴾

၆၈။ ငါသည် မိမိအရှင်မြတ်က မှာကြားတော်မူလိုက်သောအမိန့်တော်များကို အသင်တို့ထံ ပို့ဆောင်လေသည်။ ၎င်းပြင် ငါသည် အသင်တို့၏ ကောင်းကျိုးကိုလိုလားသူ ယုံကြည်စိတ်ချရသူ အစစ်အမှန်လည်း ဖြစ်ချေသတည်း။

أَوَعَجِبْتُمْ أَن جَاءَكُمْ ذِكْرٌ مِّن رَّبِّكُمْ عَلَىٰ رَجُلٍ مِّنكُمْ لِيُنذِرَكُمْ ۚ وَاذْكُرُوا إِذْ جَعَلَكُمْ خُلَفَاءَ مِن بَعْدِ قَوْمِ نُوحٍ وَزَادَكُمْ فِي الْخَلْقِ بَسْطَةً ۖ فَاذْكُرُوا آلَاءَ اللَّهِ لَعَلَّكُمْ تُفْلِحُونَ ﴿٦٩﴾

၆၉။ အသင်တို့သည် မိမိတို့အရှင်မြတ် အထံတော်မှ မိမိတို့အားသတိပေးနှိုးဆော်ရန် ဩဝါဒစကားသည် မိမိတို့အနက်မှ လူတဦးမှတဆင့် မိမိတို့ထံ ရောက်ရှိလာသည်ကိုပင် အံ့သြကြပါသလော။

အသင်တို့သည် မိမိတို့အား ထိုအရှင်မြတ်က (နဗီတမန်တော်)နူဟ်၏ အမျိုးသားများ မရှိသည့်နောက်တွင် နေရာချပေးတော်မူခဲ့သည်ကိုလည်းကောင်း၊ အသင်တို့အားအရပ်အမောင်းအားဖြင့် ပိုမိုထွားကြိုင်း ကြီးမားစေတော်မူခဲ့သည်ကိုလည်းကောင်း၊ ပြန်လည်သတိရကြလေကုန်။ [၁] တဖန်အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်များကို ပြန်လည်သတိရကြလေကုန်။ သို့မှသာလျှင် အသင်တို့သည် အောင်မြင်ကြလတ္တံ့။

قَالُوا أَجِئْتَنَا لِنَعْبُدَ اللَّهَ وَحْدَهُ وَنَذَرَ مَا كَانَ

၇၀။ ထိုအခါ၊ ၎င်း(နဗီတမန်တော်ဟူဒ်၏အမျိုးသား)တို့က (အို-ဟူဒ်) ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်တဆူတည်းကိုသာ ကိုးကွယ်၍ မိမိတို့၏

(၁) အလ္လာဟ်အရှင်မြတ်သည် အာဒ်အမျိုးသားများအား တမန်တော်နူဟ် (အလိုင်ဟစ္စလာမ်)၏ အမျိုးသားများမရှိသည့်နောက်တွင် တမန်တော်နူဟ် (အလိုင်ဟိစလ္လာမ်)၏အမျိုးသားများ နေထိုင်ရာတိုင်းပြည်၌သာ မဟုတ်။ ကမ္ဘာမြေပြင်၌ အလွန်အားအင်ကြီးမားသော လူမျိုးတမျိုး အဖြစ်ဖြင့် နေရာချပေးထားတော်မူခဲ့လေသည်။

يَعْبُدُ اٰبَآؤُنَا ۚ فَأْتِنَا بِمَا تَعِدُنَآ اِنْ كُنْتَ مِنَ الصّٰدِقِيْنَ ﴿٧٠﴾

အဖ၊ ဘိုးဘေး၊ ဘီဘင်တို့ ကိုးကွယ်ခဲ့ကြသည့် (ဘုရား)များကိုစွန့်လွှတ်ရန် အသင်သည် ကျွန်ုပ်တို့ထံ ရောက်ရှိလာခဲ့ပါသလော။ သို့ဖြစ်လျှင် အကယ်၍သာ အသင်သည် မှန်ကန်စွာ ပြောဆိုသူတဦးဖြစ်ပါမူ အသင်ခြိမ်းခြောက်လေ့ရှိသော (ပြစ်ဒဏ်)ကို ယူခဲ့ပါလေ" ဟု ပြောဆိုကြကုန်၏။

قَالَ قَدْ وَقَعَ عَلَيْكُمْ مِّنْ رَّبِّكُمْ رِجْسٌ وَّغَضَبٌ ؕ اَتُجَادِلُوْنَنِيْ فِيْٓ اَسْمَآءٍ سَمَّيْتُمُوْهَآ اَنْتُمْ وَاٰبَآؤُكُمْ مَّا نَزَّلَ اللّٰهُ بِهَا مِنْ سُلْطٰنٍ ؕ فَانْتَظِرُوْٓا اِنِّيْ مَعَكُمْ مِّنَ الْمُنْتَظِرِيْنَ ﴿٧١﴾

၇၁။ ထိုအခါ (နဗီတမန်တော်ဟူဒ်)က (အို-ငါ၏ အမျိုးသားတို့) အသင်တို့၏ အရှင်မြတ်အထံတော်မှ ပြစ်ဒဏ်သည်လည်းကောင်း၊ အမျက်တော်သည်လည်းကောင်း၊ အသင်တို့အပေါ်၌ ကေန်စင်စစ် ကျရောက်အံ့ဆဲဆဲပင် ဖြစ်ချေပြီ။

အသင်တို့သည် အကြင် အမည်နာမများနှင့် စပ်လျဉ်း၍ ငါနှင့်အငြင်းအခုံ ပြုကြလေသလော။ ထိုအမည်နာမများကို အသင်တို့နှင့် အသင်တို့၏ ဘိုးဘေး ဘီဘင်တို့သည် မှည့်ခေါ်ထားခဲ့ကြသည်။ (အမှန်စင်စစ်သော်ကား) အလ္လာဟ်အရှင်မြတ်သည် ထိုအမည်နာမများနှင့်စပ်လျဉ်း၍ မည်သည့်သက်သေသာဓကကိုမျှ ချပေးတော်မူခဲ့သည် မရှိချေ။ သို့ဖြစ်ပေ ရာ အသင်တို့သည် (အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်ကို) စောင့်ဆိုင်း၍ နေကြကုန်လော့။ ကေန်စင်စစ် ငါသည်လည်း အသင်တို့နှင့်အတူ စောင့်ဆိုင်းသူတို့တွင် တဦး အပါအဝင် ဖြစ်ချေသည်" ဟု ဖြေကြားခဲ့လေသတည်း။

فَاَنْجَيْنٰهُ وَالَّذِيْنَ مَعَهٗ بِرَحْمَةٍ مِّنَّا وَقَطَعْنَا

၇၂။ ထို့နောက် ငါအရှင်မြတ်သည် ယင်း(နဗီတမန်တော်ဟူဒ်)ကိုလည်းကောင်း၊ ယင်း(နဗီတမန်တော်ဟူဒ်)၏ အပေါင်းပါတို့ကိုလည်းကောင်း၊ မိမိကရုဏာတော်ဖြင့် ကယ်ဆယ်တော်မူခဲ့လေသည်။

دَابِرَ الَّذِينَ كَذَّبُوا بِآيَاتِنَا وَمَا كَانُوا مُؤْمِنِينَ ﴿٧٢﴾

၎င်းပြင် ငါအရှင်မြတ်၏ ဒေသနာတော်များကို *ငြင်းပယ်သောသူတို့၏ အမြစ်ကို ဖြတ်တောက်တော်မူခဲ့လေသည်။* [၁] အမှန်စင်စစ်မူကား ၎င်းတို့သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သူများပင်မဖြစ်ခဲ့ကြချေ။

وَإِلَىٰ ثَمُودَ أَخَاهُمْ صَالِحًا ۗ قَالَ يَا قَوْمِ اعْبُدُوا اللَّهَ مَا لَكُم مِّنْ إِلَٰهٍ غَيْرُهُ ۖ قَدْ جَاءَتْكُم بَيِّنَةٌ مِّن رَّبِّكُمْ ۖ هَٰذِهِ نَاقَةُ اللَّهِ لَكُمْ آيَةً ۖ فَذَرُوهَا تَأْكُلْ فِي أَرْضِ اللَّهِ ۖ وَلَا تَمَسُّوهَا بِسُوءٍ فَيَأْخُذَكُمْ عَذَابٌ أَلِيمٌ ﴿٧٣﴾

၇၃။ ထိုနည်းတူစွာ (ငါအရှင်မြတ်သည်) "ဆမူဒ်" အမျိုးသားတို့ထံ ၎င်းတို့၏ညီအစ်ကို သားချင်းဖြစ်သော (နဗီတမန်တော်) "ဆွာလိဟ်" အား (စေလွှတ်တော်မူခဲ့လေသည်)။ ထိုအခါ ယင်း(နဗီတမန်တော် ဆွာလိဟ်က (မိမိ၏အမျိုးသားတို့အား) အို-ငါ၏ အမျိုးသားတို့ အသင်တို့သည် အလ္လာဟ်အရှင်မြတ် (တဆူတည်းကိုသာလျှင်) ခဝပ်ကိုးကွယ်ကြလေကုန်။ (စင်စစ်တမူကား) အသင်တို့၌ ထိုအရှင်မြတ်မှတပါး အခြား ခဝပ်ကိုးကွယ်ရာဟူ၍ အလျင်း မရှိပြီ။ ဧကန်စင်စစ် အသင်တို့ထံ အသင်တို့၏အရှင်မြတ် အထံတော်မှ ထင်ရှားလှစွာသော သက်သေသာဓကသည် ရောက်ရှိခဲ့ချေပြီ။

ဤသည် အလ္လာဟ်အရှင်မြတ်၏ကုလားအုတ်မပင်ဖြစ်သည်။ အသင်တို့အဖို့ လက္ခဏာတရပ်အဖြစ် (စေလွှတ်တော်မူ၏။) သို့ဖြစ်ရာ အသင်တို့သည် ထိုကုလားအုတ်မကို အလ္လာဟ်အရှင်မြတ်၏ ပထဝီမြေပြင်ဝယ် စားသောက်(သွားလာ)ရန် လွှတ်ထားကြလေကုန်။

---

(၁) အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို သွေးဖည်ငြင်းဆန် မနာခံသော အားအင်ကြီးမား မောက်မာဝါကြွား အလွန်ဆိုးရွားလှသော အာဒ်အမျိုးသားများသည် နောက်ဆုံးတွင် ကြောက်ဖွယ်လိလိ ပြစ်ဒဏ်တော်ကို ခံစားခဲ့ကြရလေသည်။ ၎င်းတို့အား အလ္လာဟ်အရှင်မြတ် ပြစ်ဒဏ်ခတ်တော်မူသည့်အကြောင်း ကုရ်အာန်ကျမ်းမြတ် (၂၃:၄၁။ ၄၁:၁၆။ ၄၆:၂၄-၂၆။ ၅၁:၄၁-၄၂။ ၆၉:၆-၇) တွင် မိန့်ဆိုထားတော်မူသည်။

ငင်းပြင် အသင်တို့သည် ထိုကုလားအုတ်မကို မကောင်းသောစေတနာနှင့် မထိကြကုန်လင့်။ သို့မဟုတ်လျှင် ပြင်းပြနာကျင်ဖွယ်ဖြစ်သောပြစ်ဒဏ်သည် အသင်တို့အား ဖမ်းဆီး ကွပ်မျက်လိမ့်မည် ဟု ပြောကြား တော်မူခဲ့လေသတည်း။

၇၄။ ငင်းပြင် (အို-ဆမူဒ် အမျိုးသားအပေါင်းတို့) အသင်တို့သည် မိမိတို့အား အရှင်မြတ်က "အာဒ်" အမျိုးသားများ မရှိသည့်နောက်တွင် ကိုယ်စားလှယ်များအဖြစ် ခန့်အပ်တော်မူခဲ့သည်ကို လည်းကောင်း၊ ပထဝီမြေ၌ မိမိတို့အား နေရာချပေးတော်မူခဲ့သည်ကို လည်းကောင်း၊ ပြန်လည်သတိရကြလေကုန်။ အသင်တို့သည် ပထဝီမြေပြင်၏ နူးညံ့သောနေရာများတွင် အခမ်းအနားသိုက်မြိုက်သည့် အဆောက်အဦးများ တည်ဆောက်ကြကုန်ကြ၏။ ငင်းပြင် အသင်တို့သည် တောင်များကိုဖောက်ထွင်း၍ နေအိမ်များ ပြုလုပ်ကြကုန်၏။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ် အရှင်မြတ်၏ကျေးဇူးတော်များကို ပြန်လည်သတိရကြလေကုန်။ ငင်းပြင် အသင်တို့သည် ပထဝီမြေပြင်ဝယ် ဖျက်ဆီးသောင်းကျန်းသူများအဖြစ် မဆိုးသွမ်းကြကုန်လင့်။

وَاذْكُرُوا إِذْ جَعَلَكُمْ خُلَفَاءَ مِنْ بَعْدِ عَادٍ وَبَوَّأَكُمْ فِي الْأَرْضِ تَتَّخِذُونَ مِنْ سُهُولِهَا قُصُورًا وَتَنْحِتُونَ الْجِبَالَ بُيُوتًا ۖ فَاذْكُرُوا آلَاءَ اللَّهِ وَلَا تَعْثَوْا فِي الْأَرْضِ مُفْسِدِينَ ﴿٧٤﴾

၇၅။ ထိုအခါ (နဗီတမန်တော် ဆွာလိဟ်)၏ အမျိုးသားတို့အနက် မောက်မာပလွှားသော အကြီးအကဲများက အားနည်းသူများဟု အထင်ခံကြရသူတို့အနက်မှ သက်ဝင်ယုံကြည်သူတို့အား "ဆွာလိဟ်" သည် ငင်း၏ အရှင်မြတ်အထံတော်မှ စေလွှတ်တော်မူသော ရစူလ်တမန်တော်ဖြစ်ကြောင်း အသင်တို့ ယုံကြည်ကြပါသလော" ဟု မေးမြန်းကြကုန်၏။

قَالَ الْمَلَأُ الَّذِينَ اسْتَكْبَرُوا مِنْ قَوْمِهِ لِلَّذِينَ اسْتُضْعِفُوا لِمَنْ آمَنَ مِنْهُمْ أَتَعْلَمُونَ أَنَّ

صَٰلِحًا مُّرْسَلٌ مِّن رَّبِّهِۦ ۚ قَالُوٓا۟ إِنَّا بِمَآ أُرْسِلَ بِهِۦ مُؤْمِنُونَ ﴿٧٥﴾

ထိုအခါ ၎င်း(သက်ဝင်ယုံကြည်သူ)တို့က "ကျွန်ုပ်တို့သည် ထို (ရစူလ် တမန်တော်)ဆွာလိဟ် ယူဆောင်လာသော အမိန့်တော်များကို သက်ဝင်ယုံကြည်သူများပင် ဖြစ်ကြပါသည်" ဟု ဖြေကြားကြလေသတည်း။

قَالَ ٱلَّذِينَ ٱسْتَكْبَرُوٓا۟ إِنَّا بِٱلَّذِىٓ ءَامَنتُم بِهِۦ كَٰفِرُونَ ﴿٧٦﴾

၇၆။ (ထိုအခါ) မောက်မာပလွှားသော သူတို့က "မုချဧကန် ငါတို့သည် အသင်တို့ယုံကြည်ကြသည့်အရာကို ငြင်းပယ်သူများပင် စင်စစ်ဖြစ်ကြသည်" ဟု ပြောဆိုကြကုန်၏။

فَعَقَرُوا۟ ٱلنَّاقَةَ وَعَتَوْا۟ عَنْ أَمْرِ رَبِّهِمْ وَقَالُوا۟ يَٰصَٰلِحُ ٱئْتِنَا بِمَا تَعِدُنَآ إِن كُنتَ مِنَ ٱلْمُرْسَلِينَ ﴿٧٧﴾

၇၇။ နောက်ဆုံးတွင်၎င်းတို့သည် ကုလားအုတ်မကို (လည်း) သတ်ဖြတ်ခဲ့ကြ၏။ မိမိတို့ အရှင်မြတ်၏ အမိန့်တော်ကိုလည်း မထီမဲ့မြင်ပြုလုပ်ခဲ့ကြ၏။ ထို့ပြင် ၎င်းတို့က 'အို-"ဆွာလိဟ်" အသင်သည် အကယ်၍ ရစူလ်တမန်တော်တို့တွင် တပါး အပါအဝင်ဖြစ်ခဲ့လျှင် အသင် ကျွန်ုပ်တို့အား ခြိမ်းခြောက်လေ့ရှိသော (ပြစ်ဒဏ်)ကို ကျွန်ုပ်တို့ထံယူခဲ့ပါလေ' ဟူ၍လည်း ပြောဆိုခဲ့ကြ၏။

فَأَخَذَتْهُمُ ٱلرَّجْفَةُ فَأَصْبَحُوا۟ فِى دَارِهِمْ جَٰثِمِينَ ﴿٧٨﴾

၇၈။ သို့ဖြစ်ပေရာလျှင်သည် ၎င်းတို့အား ဖမ်းဆီးသိမ်းယူခဲ့လေသည်။ ① ထို့ကြောင့်၎င်းတို့သည် မိမိတို့ နေအိမ်(ဝါ)မြို့ရွာ၌ မှောက်လျက်သား(မြေနှင့်တသားတည်းဖြစ်ကာ သေကြေပျက်စီး)သွားခဲ့ကြကုန်၏။

---

① ဆမူဒ် အမျိုးသားများအား ပြစ်ဒဏ်တော် တပ်ရိုက်စီရင်တော်မူရာတွင် အချို့သောနေရာ၌ ပြစ်ဒဏ်ဟူ၍ သုံးထားတော်မူသည်။ ကြည့်-ကုရ်အာန် (၂၆း၁၅၈) အချို့နေရာတွင် မိုးကြိုးလောင်မီး ဟူ၍ သုံးထားတော်မူ၏။ ကြည့်-ကုရ်အာန် (၅၁း၄၄) အချို့နေရာတွင်ကား ကျယ်လောင်သော အသံဟူ၍ သုံးထားတော်မူ၏။ ကြည့်-ကုရ်အာန် (၅၄း၃၁) အချို့နေရာတွင် မြေငလျင်ဟူ၍ သုံးထားတော်မူ၏။ ကြည့်-ကုရ်အာန် (၇း၇၈)။

فَتَوَلّٰى عَنْهُمْ وَقَالَ يٰقَوْمِ لَقَدْ اَبْلَغْتُكُمْ رِسَالَةَ رَبِّىْ وَنَصَحْتُ لَكُمْ وَلٰكِنْ لَّا تُحِبُّوْنَ النّٰصِحِيْنَ ﴿٧٩﴾

၇၉။ ထိုအခါ ယင်း(နဗီတမန်တော်) "ဆွာလိဟ်" သည် ၎င်းတို့ဘက်မှ မျက်နှာလွှဲ၍ ထွက်ခဲ့လေသည်။ ထို့ပြင် "အို-ငါ၏အမျိုးသားတို့ ငါသည် မိမိအရှင်မြတ်က မှာကြားတော်မူလိုက်သော အမိန့်တော်ကိုလည်း အသင်တို့ထံ ဧကန်စင်စစ် ပို့ဆောင်ခဲ့ပြီးဖြစ်၏။ ၎င်းပြင် ငါသည် အသင်တို့၏ကောင်းကျိုးကိုလည်းသယ်ပိုးရွက်ဆောင်ခဲ့သည်။ "သို့ရာတွင် အသင်တို့သည်ကား ကောင်းကျိုး သယ်ပိုးရွက်ဆောင်သူတို့ကိုပင်မနှစ်သက်ကြပါ"ဟု ပြောကြားခဲ့လေသည်။

وَلُوْطًا اِذْ قَالَ لِقَوْمِهٖٓ اَتَاْتُوْنَ الْفَاحِشَةَ مَا سَبَقَكُمْ بِهَا مِنْ اَحَدٍ مِّنَ الْعٰلَمِيْنَ ﴿٨٠﴾

၈၀။ ထို့နည်းတူစွာ (ငါအရှင်မြတ်သည် နဗီတမန်တော်)လူတ်ကို(လည်း စေလွှတ်တော်မူခဲ့လေသည်။) တရံရောအခါ ထို(နဗီတမန်တော်လူတ်)က မိမိအမျိုးသားတို့အား (ဤသို့)ပြောကြားခဲ့လေ၏။ (ဟယ်-အချင်းတို့) အသင်တို့သည် အကြင် စက်ဆုပ်ရွံ့ရှာဖွယ်ကိစ္စကို ကျူးလွန်ကြလေသလော။ ယင်းစက်ဆုပ်ရွံ့ရှာဖွယ်ကိစ္စကို အသင်တို့၏အလျင် စကြာဝဠာ ခပ်သိမ်းတို့အနက် မည်သူတဦးတယောက်မျှ ကျူးလွန်ခဲ့သည် မရှိခဲ့ပေ။

اِنَّكُمْ لَتَاْتُوْنَ الرِّجَالَ شَهْوَةً مِّنْ دُوْنِ النِّسَآءِ ۭ بَلْ اَنْتُمْ قَوْمٌ مُّسْرِفُوْنَ ﴿٨١﴾

၈၁။ မုချဧကန် အသင်တို့သည် မိန်းမတို့ကိုစွန့်၍ (ယောကျ်ားများထံ ကာမဂုဏ်ခံစားရန်သွားကြကုန်သည်)။ (တနည်း-ယောကျ်ားများထံ ကာမဂုဏ်ခံစားရန် သွားကြကုန်၏။) ထို့မျှမက အသင်တို့သည် (အရာရာတွင်လည်း အလွန်အမင်း) *စည်းကမ်းကျူးလွန်သူများပင် ဖြစ်ကြကုန်သတည်း။* [၁]

(၁) တမန်တော်လူတ်(အလိုင်ဟစ္စလမ်၏)၏ "အွန်မ္မတ်"သည် ဓမ္မတာမဟုတ်သော သဘာဝဓမ္မနှင့် ဆန့်ကျင်သော ယောကျ်ားအချင်းချင်း ကာမဂုဏ် အာရုံခံစားရာတွင်သာလျှင် စည်းကမ်း ကျူးလွန်ခဲ့ကြသည်မဟုတ်။ ၎င်းတို့သည် ကိစ္စအဝဝတွင် စည်းကမ်းကျူးလွန်လျက် ရှိခဲ့ကြပေသည်။

وَمَا كَانَ جَوَابَ قَوْمِهِۦٓ إِلَّآ أَن قَالُوٓا۟ أَخْرِجُوهُم مِّن قَرْيَتِكُمْ ۖ إِنَّهُمْ أُنَاسٌ يَتَطَهَّرُونَ ﴿٨٢﴾

၈၂။ ထို(နဗီတမန်တော်လူတ်) ၏အမျိုးသားတို့က (မိမိတို့ အချင်းချင်း) အသင်တို့သည် ထို(လူတ်နှင့် တကွ "မုအ်မင်န်" သက်ဝင်ယုံကြည်သူ)တို့ကို မိမိတို့ မြို့ရွာမှ နှင်ထုတ်ကြလေကုန်။ အဘယ့်ကြောင့်ဆိုသော် ၎င်းတို့သည်သန့်ရှင်းစင်ကြယ်ဟန် ဆောင်သူများသာ ဖြစ်ကြကုန်သည်ဟု ပြောဆိုခြင်းမှတပါး မည်သို့မျှ ဖြေကြားနိုင်ခြင်း မရှိခဲ့ကြပေ။

فَأَنجَيْنَٰهُ وَأَهْلَهُۥٓ إِلَّا ٱمْرَأَتَهُۥ كَانَتْ مِنَ ٱلْغَٰبِرِينَ ﴿٨٣﴾

၈၃။ ထို့နောက် ငါ အရှင်မြတ်သည် (နဗီ တမန်တော်)လူတ်၏ကြင်ရာမှတပါး ထိုလူတ်နှင့်တကွ အိမ်သူအိမ်သားတို့ကိုပါ ကယ်ဆယ်တော်မူခဲ့လေသည်။ *ထိုကြင်ရာသည် နောက်ကျန်ရစ်သူတို့တွင် အပါအဝင် ဖြစ်ခဲ့ချေသည်။* ၁

وَأَمْطَرْنَا عَلَيْهِم مَّطَرًا ۖ فَٱنظُرْ كَيْفَ كَانَ عَٰقِبَةُ ٱلْمُجْرِمِينَ ﴿٨٤﴾

၈၄။ ထို့ပြင်ငါအရှင်မြတ်သည် ၎င်းတို့အပေါ်၌ မိုး *တမျိုး(ဝါ)ခဲမိုးကို ရွာသွန်းစေတော်မူခဲ့လေသည်။* ၂ သို့ဖြစ်ပေရာ ပြစ်မှုဒုစရိုက်ကျူးလွန်သူတို့၏အကျိုး သည် မည်သို့ဖြစ်ခဲ့သည်ကို အသင်ရှုပါလေ။

وَإِلَىٰ مَدْيَنَ أَخَاهُمْ شُعَيْبًا ۗ قَالَ يَٰقَوْمِ

၈၅။ ထိုနည်းတူစွာ (ငါအရှင်မြတ်သည်) မဒ်ယန် (မြို့သားများထံ)သို့ ၎င်းတို့၏ညီအစ်ကို သားချင်း ဖြစ်သော (နဗီတမန်တော်)ရှုအိုက်ဗ်ကို (စေလွှတ် တော်မူခဲ့လေသည်။)

---

(၁) အလ္လာဟ်အရှင်မြတ်သည် (Sodom) မြို့သားများကို ဖျက်ဆီးတော်မူရာတွင် တမန်တော်လူတ် (အလိုင်ဟစ္စလာမ်)နှင့်တကွ ထိုတမန်တော်၏ အိမ်သူအိမ်သားများကိုသာ ကယ်ဆယ်တော်မူခဲ့လေသည်။ သို့ရာတွင် အိမ်သူအိမ်သားများအနက် တမန်တော်လူတ်(အလိုင်ဟစ္စလမ်)၏ ဇနီးမိန်းမသည် အပြစ်ဒဏ် သင့်သူများတွင် အပါအဝင် ဖြစ်ခဲ့လေသည်။

တမန်တော်လူတ်၏ ကြင်ရာသည် တမန်တော်လူတ်အပေါ်၌ သစ္စာမဲ့ခဲ့၏။

အလ္လာဟ်အရှင်မြတ်အား သွေဖည်ငြင်းဆန်ခဲ့၏။ အီဗ်နုဂျရီရ်

တမန်တော်လူတ်၏ကြင်ရာနှင့် တမန်တော်နူဟ်၏ ကြင်ရာများသည် သစ္စာမဲ့ခဲ့ကြသည့်အကြောင်း ကုရ်အာန်ကျမ်းမြတ် (၆၆:၁၀)တွင် မိန့်ဆိုထား တော်မူသည်။

اعْبُدُوا اللّٰهَ مَا لَكُمْ مِّنْ اِلٰهٍ غَيْرُهٗ ۭ قَدْ جَاۗءَتْكُمْ بَيِّنَةٌ مِّنْ رَّبِّكُمْ فَاَوْفُوا الْكَيْلَ وَالْمِيْزَانَ وَلَا تَبْخَسُوا النَّاسَ اَشْيَاۗءَهُمْ وَلَا تُفْسِدُوْا فِي الْاَرْضِ بَعْدَ اِصْلَاحِهَا ۭ ذٰلِكُمْ خَيْرٌ لَّكُمْ اِنْ كُنْتُمْ مُّؤْمِنِيْنَ ۝۸۵

ထို(နဗီတမန်တော်) ရှုအိုက်ဗ်သည် (မိမိတို့ အမျိုးသားတို့အား ဤသို့)ပြောကြားခဲ့လေ၏။ အို-ငါ၏အမျိုးသားတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကိုသာလျှင် ခဝပ်ကိုးကွယ်ကြလေကုန်။ အသင်တို့၌ အလ္လာဟ်အရှင်မြတ်အပြင် အခြားခဝပ်ကိုးကွယ်ရာဟူ၍ အလျှင်းမရှိပြီ။

အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ ထင်ရှားလှစွာသောသက်သေသာဓကသည် အသင်တို့ထံ ရောက်ရှိလာခဲ့ချေပြီ။ သို့ဖြစ်ပေရာ အသင်တို့သည် (ခွက်၊ စလယ်၊ တောင်းစသော)ပမာဏ အခြင်အတွယ်(များ)ကိုလည်းကောင်း၊ အလေးချိန်(များ)ကိုလည်းကောင်း၊ ချိန်တွယ်ရာတွင် တရားမျှတစွာဖြင့် အပြည့်(ချိန်တွယ်၍) ပေးကြလေကုန်။ ၎င်းပြင် အသင်တို့သည် လူတို့အား ၎င်းတို့၏ ဥစ္စာပစ္စည်းများကို မတရားသဖြင့် လျှော့၍ပေးခြင်းကိုလည်း မပြုကြကုန်လင့်။ ထို့ပြင် အသင်တို့သည် ကမ္ဘာမြေပြင် တင့်တယ်ကောင်းမွန်လာပြီးနောက် ထိုကမ္ဘာမြေပြင်ဝယ် ပျက်စီးရာပျက်စီးကြောင်းများကို မပြုလုပ်ကြကုန်လင့်။ ဤသည်ကား အကယ်၍သာ အသင်တို့သည် မုအ်မင်န် သက်ဝင်ယုံကြည်သူများဖြစ်ကြပါလျှင် အသင်တို့အဖို့ အကောင်းဆုံးပင်ဖြစ်ချေသတည်း။

وَلَا تَقْعُدُوْا بِكُلِّ صِرَاطٍ تُوْعِدُوْنَ وَتَصُدُّوْنَ

၈၆။ ထို့ပြင် အသင်တို့သည် (သက်ဝင်ယုံကြည်သူတို့အား) ခြိမ်းခြောက်ရန်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏လမ်းတော်မှ ထိုအရှင်မြတ်အားယုံကြည်

---

(၂) အမိန့်တော်များကို သွေဖည်ငြင်းဆန် မနာခံပဲ အလွန်တရာမှု ညစ်ညမ်းဆိုးသွမ်းလျက်ရှိသော Sodom မြို့သားများကို နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အပေါ်သို့ ခဲမိုး၊ မီးမိုးရွာသွန်းချစေတော်မူပြီး ကွပ်မျက်တော်မူလိုက်လေသည်။

عَنْ سَبِيْلِ اللّٰهِ مَنْ اٰمَنَ
بِهٖ وَتَبْغُوْنَهَا عِوَجًا ۚ
وَاذْكُرُوْٓا اِذْ كُنْتُمْ قَلِيْلًا
فَكَثَّرَكُمْ ۠ وَانْظُرُوْا
كَيْفَ كَانَ عَاقِبَةُ
الْمُفْسِدِيْنَ ﴿٨٦﴾

သူတို့ကို ပိတ်ပင်တားဆီးရန်လည်းကောင်း၊ ထို(အရှင်မြတ်၏)လမ်းတော်၌ ကွေ့ကောက်မှုကို ရှာဖွေရန်လည်းကောင်း၊ မည်သည့်လမ်းပေါ်၌မျှ မထိုင်ကြကုန်လင့်။ ထိုမှတပါး အသင်တို့သည် အနည်းငယ်မျှသာ ရှိခဲ့ကြရာ ထိုအရှင်မြတ်သည် အသင်တို့အား တိုးပွားများပြားစေတော်မူခဲ့သည်ကိုလည်း ပြန်လည်သတိရရှိကြလေကုန်။ ထို့ပြင် အသင်တို့သည် ပျက်စီးရာပျက်စီးကြောင်းပြုလုပ်သောသူတို့၏ နောက်ဆုံးအကျိုးသည် မည်သို့ဖြစ်ခဲ့သည်ကိုလည်းရှုကြလေကုန်။ [၁]

وَاِنْ كَانَ طَآئِفَةٌ
مِّنْكُمْ اٰمَنُوْا بِالَّذِيْٓ
اُرْسِلْتُ بِهٖ وَطَآئِفَةٌ لَّمْ
يُؤْمِنُوْا فَاصْبِرُوْا حَتّٰى
يَحْكُمَ اللّٰهُ بَيْنَنَا ۚ وَهُوَ
خَيْرُ الْحٰكِمِيْنَ ﴿٨٧﴾

၈၇။ ၎င်းပြင် အကယ်၍ အသင်တို့အနက်မှ အုပ်စုတစုသည် ငါ မှာကြားစေလွှတ်ခြင်းခံရသော အမိန့်ပညတ်တော်များကို သက်ဝင်ယုံကြည်၍ အုပ်စုတစုကမူ မယုံကြည်ပဲ နေခဲ့ကြပါလျှင် ငါတို့၏စပ်ကြားတွင် အလ္လာဟ်အရှင်မြတ်က စီရင်ဆုံးဖြတ်၍ ပေးတော်မူသည်အထိ အသင်တို့သည် သည်းခံစောင့်ဆိုင်း၍ နေကြလေကုန်။ အမှန်သော်ကား ထိုအရှင်မြတ်သည် အကောင်းဆုံး စီရင်ဆုံးဖြတ်ပေးတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) မဒ်ယန်မျိုးနွယ်များသည် လူဦးရေအားဖြင့်လည်းကောင်း၊ ဥစ္စာပစ္စည်းအားဖြင့်လည်းကောင်း၊ နည်းခဲ့ကြ၏။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ဥစ္စာပစ္စည်းတွင်လည်းကောင်း၊ လူဦးရေတွင်လည်းကောင်း၊ တိုးပွားများပြားစေတော်မူခဲ့လေသည်။ သို့ဖြစ်ပေရာ မဒ်ယန်မျိုးနွယ်များသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို သတိရကြပေမည် သိကြရပေမည်။ ထိုအရှင်မြတ်အား ကျေးဇူး အထူးတင်ကြရပေမည်။ ထိုအရှင်မြတ်နှင့် ထိုအရှင်မြတ်၏ကျွန်များ၏ အခွင့်အရေးများနှင့်တာဝန်များကို ကျေပွန်စွာ ဆောင်ရွက်ကြရပေမည်။ ထိုအရှင်မြတ်၏ ကျေးဇူးတော်များကို ထိုအရှင်မြတ်၏ အမိန့်တော်များနှင့်အညီ သုံးစွဲကြရပေမည်။ ထိုကျေးဇူးတော်များကို အကြောင်းပြု၍ မောက်မာပလွှား ဝါကြွားခြင်းကား အလျှင်းမပြုကြရပေ။ မောက်မာပလွှားဝါကြွား၍ ကမ္ဘာမြေပြင်တွင် ပျက်စီးရာပျက်စီးကြောင်း ပြုလုပ်သူများသည် နောက်ဆုံးတွင် မည်သို့မည်ပုံ ပျက်စီးသွားခဲ့ကြသည်ကို စဉ်းစားဆင်ခြင်းတရားမြင်၍ သတိသံဝေဂ ရယူကြရပေမည်။ ထိုအရှင်မြတ်၏ ပြစ်ဒဏ်တော်ကို အထူးစိုးရိမ် ကြောက်ရွံ့ကြပေမည်။

قَالَ الْمَلَأُ الَّذِينَ اسْتَكْبَرُوا مِن قَوْمِهِ لَنُخْرِجَنَّكَ يَا شُعَيْبُ وَالَّذِينَ آمَنُوا مَعَكَ مِن قَرْيَتِنَا أَوْ لَتَعُودُنَّ فِي مِلَّتِنَا ۚ قَالَ أَوَلَوْ كُنَّا كَارِهِينَ ﴿٨٨﴾

၈၈။ ထိုအခါ ယင်း နဗီတမန်တော်(ရှုအိုက်ဗ်)၏ အမျိုးသားတို့အနက်မှ မောက်မာပလွှားကြသော အကြီး အကဲတို့က "အို-ရှုအိုက်ဗ်" ကျွန်ုပ်တို့သည် အသင်နှင့်တကွအသင်နှင့်အတူ သက်ဝင်ယုံကြည်သော သူတို့ကိုပါမိမိတို့မြို့ရွာမှ [1] မုချ နှင်ထုတ်ပစ်ကြမည်။ သို့မဟုတ်လျှင် အသင်တို့သည် ကျွန်ုပ်တို့၏ဘာသာ သာသနာတွင်းသို့ *ပြန်လည်(ဝင်)ခဲ့ကြလေကုန်"* [2] ဟု ပြောဆိုခဲ့ကြလေသည်။ ထိုအခါ ထိုနဗီတမန်တော် (ရှုအိုက်ဗ်)က ငါတို့သည် (အသင်တို့၏ဘာသာကို) စက်ဆုပ်ပါလျက်နှင့်ပင် (ပြန်ဝင်ကြရပါမည်)လောဟု ဖြေကြားခဲ့လေသတည်း။

---

(၁) "ကရ်ယဟ်" ဟူသောပုဒ်သည် တခါတရံ မြို့ရွာအနက်၌ အသုံးဖြစ်သည်။ တခါတရံတိုင်းပြည် အနက်၌ အသုံးဖြစ်ချေသည်။ (ကြည့်-အလ်မနာရ်)

(၂) တမန်တော် ရှုအိုက်ဗ်(အလိုင်ဟစ္စလာမ်)၏ အမျိုးသားများအနက် မောက်မာပလွှားသော အကြီးအကဲများက "အသင်တို့သည် ကျွန်ုပ်တို့၏ဘာသာအတွင်းသို့ ပြန်လည်လာကြ" ဟု ပြောဆိုခြင်းမှာ တမန်တော်ရှုအိုက်ဗ်၏ မုအ်မင်န် နောက်လိုက်တပည့်သားများနှင့် ပတ်သက်သော် ၎င်းနောက်လိုက်များသည် အီမာန် မယုံကြည်ကြမီ အလျင် ကုဖ်ရ်၌ပင် ရှိခဲ့ကြသည့်အတွက် ယင်းသို့ပြောဆိုခြင်းဖြစ်ပေမည်။ သို့ရာတွင်မူ တမန်တော်ရှုအိုက်ဗ်နှင့် ပတ်သက်၍ ယင်းသို့ပြောဆိုရန်ကား အသို့လျှင်အကြောင်းရှိနိုင်အံ့နည်း၊ အဘယ်ကြောင့်ဆိုသော် တမန်တော် ရှုအိုက်ဗ်သည် နဗီတမန်တော် ဖြစ်တော်မူခြင်းအားဖြင့် အမြဲတစေ "မုအ်မင်န်" ဖြစ်တော်မူသည်၊ သို့ဖြစ်ပေရာ တမန်တော်ရှုအိုက်ဗ်နှင့် ပတ်သက်၍ ကုဖ်ရ်အတွင်းသို့ ပြန်လည်ဝင်ရန် ပြောဆိုခြင်းမှာ အသို့လျှင် ဖြစ်အံ့နည်း။

လင်းပြဦးအံ့။ ဤပြဿနာကား သာမန်ပင်ဖြစ်၏။ (နဗီတမန်တော်များတွင် "ကုဖ်ရ်" သွေဖည်မှုသည် မည်သည့်အခါ၌မျှ ဖြစ်ပေါ်သည်မရှိချေ။ ကြည့်-ထာနဝီ) တမန်တော်များသည် နဗီအဖြစ် မြှောက်စားခြင်း မခံကြရသေးမီအတွင်း သက်ဆိုင်ရာအမျိုးသားတို့၏ အယူဝါဒကို ဆန့်ကျင်လေ့၊ တိုက်ဖျက်လေ့ မရှိခဲ့ကြပေ။ ထို့အတွက်ကြောင့် အမှားဝါဒီများသည် ထိုအချိန်တွင် ထိုတမန်တော်များအားလည်း ၎င်းတို့နှင့်ဘာသာတူများပင် ဖြစ်ကြသည်ဟူ၍ မှတ်ထင်ကြသည်။ နဗီတမန်တော်များသည် နဗီအဖြစ် မြှောက်စားခြင်းမခံကြရသေးသည့် အတောအတွင်း ၎င်းတို့တွင် အသိတရား တိုးပွားလာသည်နှင့်အမျှ ပတ်ဝန်းကျင်၌ရှိသော အမှားဝါဒများ၏ အမှောင်ထုကို ဂရုမူလာကြ၏။ နဗီအဖြစ် မြှောက်စားခြင်းခံကြရသည့်အခါတွင်မူ ထိုအမှားဝါဒ အမှောင်ထုကို အတည့်အလင်း ဆန့်ကျင်တိုက်ဖျက်ကြ၏၊ ဖြိုခွင်းကြ၏၊ တမန်တော်ရှုအိုက်ဗ်၏ အမျိုးသားများအနက် မောက်မာပလွှားသော အကြီးအကဲများက တမန်တော် ရှုအိုက်ဗ်အား ၎င်းတို့၏ ဘာသာအတွင်းသို့ပြန်လည်ဝင်ရန် ပြောဆိုခြင်းမှာ တမန်တော်ရှုအိုက်ဗ်၏ နဗီမဖြစ်မီအခြေအနေကိုထောက်၍ တမန်တော်ရှုအိုက်ဗ်သည်လည်း ၎င်းတို့နှင့် ဘာသာတူ အယူဝါဒတူ ဖြစ်ခဲ့သည်ဟု ထင်မှတ်ပြောဆိုခြင်းသာ ဖြစ်ပေမည်။

قَدِ افْتَرَيْنَا عَلَى اللّٰهِ كَذِبًا اِنْ عُدْنَا فِيْ مِلَّتِكُمْ بَعْدَ اِذْ نَجّٰىنَا اللّٰهُ مِنْهَا ؕ وَمَا يَكُوْنُ لَنَاۤ اَنْ نَّعُوْدَ فِيْهَاۤ اِلَّاۤ اَنْ يَّشَآءَ اللّٰهُ رَبُّنَا ؕ وَسِعَ رَبُّنَا كُلَّ شَيْءٍ عِلْمًا ؕ عَلَى اللّٰهِ تَوَكَّلْنَا ؕ رَبَّنَا افْتَحْ بَيْنَنَا وَبَيْنَ قَوْمِنَا بِالْحَقِّ وَاَنْتَ خَيْرُ الْفٰتِحِيْنَ ﴿٨٩﴾

၈၉။ အကယ်၍သာ ငါတို့သည် အသင်တို့၏ ဘာသာသာသနာအတွင်းသို့ အလ္လာဟ်အရှင်မြတ်က ငါတို့အား ထိုဘာသာမှ ကယ်ဆယ်တော်မူပြီးနောက် ပြန်လည်ဝင်ရောက်ခဲ့ကြပါလျှင် အမှန်စင်စစ် ငါတို့သည် အလ္လာဟ်အရှင်မြတ်အပေါ်၌ ကြံဖန်လီဆယ်၍ မုသားစွပ်စွဲသူများသာ ဖြစ်ကြပေအံ့။ စင်စစ်သော်ကား ငါတို့သည် ငါတို့၏အရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်က အလိုရှိတော်မူသည်မှအပ ငါတို့အဖို့ ထိုဘာသာတွင်းသို့ ပြန်ဝင်ကြရန်မဖြစ်နိုင်ပေ။ ၁

ငါတို့၏အရှင်မြတ်သည် အသိပညာအားဖြင့် အရာခပ်သိမ်းတို့ကို လွှမ်းခြုံလျက် ရှိတော်မူ၏။ ငါတို့သည် အလ္လာဟ်အရှင်မြတ်အပေါ်၌သာလျှင် ယုံကြည်စိတ်ချ လွှဲအပ်ခဲ့ကြချေပြီ။ အို-ကျွန်တော်မျိုးတို့၏အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့နှင့် ကျွန်တော်မျိုးတို့၏အမျိုးသားတို့ စပ်ကြားဝယ် မှန်ကန်စွာစီရင်ဆုံးဖြတ်၍ ပေးသနားတော်မူပါ။ အမှန်သော်ကား အရှင်မြတ်သည်ပင်လျှင် အကောင်းဆုံး စီရင်ဆုံးဖြတ်၍ ပေးတော်မူသောအရှင်ဖြစ်တော်မူပါသတည်း။

---

(၁) "အာရစ်ဖ်" အလ္လာဟ်အရှင်မြတ်အား နက်နက်နဲနဲ သိမြင်ယုံကြည်သော သူတော်စင်များသည် ထိုအရှင်မြတ်၏ "တက္ကဒီရ်" စီမံဖန်တီးမှုရှေ့တွင် အမြဲတစေ တုန်လှုပ်ကြောက်လန့်လျက် ရှိကြ၏။ အာရ်စ်ဖ်များသည် ပထမသော် "ကျွန်ုပ်တို့သည် ဘယ်သောအခါမျှ ကုဖ်ရ်ကို လက်ခံကြမည်မဟုတ်" ဟု မိမိတို့၏ စိတ်စေတနာကို ခိုင်မာစွာ ထုတ်ဖော်ပြောဆိုကြသည်။ သို့ရာတွင် ယင်းသို့ ခိုင်မာစွာထုတ်ဖော်ပြောဆိုခြင်းသည် တနည်းအားဖြင့် ဟိတ်ထုတ်ရာလည်းရောက်သည်၊ မိမိကိုယ်ကိုမိမိ သိဒ္ဓိတင်ရာလည်းရောက်သည်။ ထို့အတွက်ကြောင့် အာရစ်ဖ်များသည် ယင်းသို့ ထုတ်ဖော်ပြောဆိုမိသည့်အခါ "သို့ရာတွင် ကျွန်ုပ်တို့၏အရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ် အလိုတော်ရှိတော်မူပါသော်" ဟူ၍ ချွင်းချက်ကို ဖြည့်စွက်ပြောဆိုကြသည်။

"အီမာန်" ယုံကြည်ပြီးသည့်နောက် "ကုဖ်ရ်" ဘက်သို့ ပြန်လည်ရောက်ရှိသွားနိုင်ခြင်းတည်းဟူသော စိုးရိမ်မှုသည် သာမန် မုအ်မင်န်တို့အဖို့ အမြဲပင်ရှိနေပေသည်။ နဗီတမန်တော်များအဖို့မှာကား ထိုသို့သော စိုးရိမ်မှုသည် အလျှင်းမရှိပေ၊ သို့ပါလျက် "သို့ရာတွင် ကျွန်ုပ်တို့၏အရှင် ဖြစ်တော်မူသော ➢➢

၉၀။ ၎င်းပြင် ထို (နဗီတမန်တော်)ရှုအိုက်ဗ်၏ အမျိုးသားတို့အနက်မှ သွေဖည်ငြင်းပယ်ကြသော အကြီးအကဲတို့က (မိမိတို့ အမျိုးသားချင်းတို့အား အို-အချင်းတို့) အကယ်၍ အသင်တို့သည် ရှုအိုက်ဗ်၏အမိန့်ကို လိုက်နာကြပါလျှင် မုချစင်စစ် အသင်တို့သည် ဆုံးရှုံးနစ်နာသူများ ဖြစ်ကြကုန်အံ့ ဟု ပြောဆိုခဲ့ကြကုန်၏။

وَقَالَ الْمَلَأُ الَّذِينَ كَفَرُوا مِن قَوْمِهِ لَئِنِ اتَّبَعْتُمْ شُعَيْبًا إِنَّكُمْ إِذًا لَّخَاسِرُونَ ﴿٩٠﴾

၉၁။ ထို့နောက် ၎င်းတို့အား မြေငလျင်သည် ဖမ်းဆီးကွပ်မျက်လိုက်၏။ သို့ဖြစ်ရာတွင် ၎င်းတို့သည် မိမိတို့နေအိမ်(ဝါ)မြို့ရွာတွင် မှောက်လျက် သေကြေပျက်စီးသွားကြချေသတည်း။

فَأَخَذَتْهُمُ الرَّجْفَةُ فَأَصْبَحُوا فِي دَارِهِمْ جَاثِمِينَ ﴿٩١﴾

၉၂။ နဗီတမန်တော်(ရှုအိုက်ဗ်)အား မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြသော သူတို့သည် ထိုအိမ်(ဝါ)မြို့ရွာတွင် အလျင်း နေထိုင်ခဲ့ကြဖူးသည် မရှိသကဲ့သို့ပင် ပျက်စီးခဲ့ကြကုန်၏။ နဗီတမန်တော်(ရှုအိုက်ဗ်)ကို မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြသော သူတို့သည်ပင်လျှင် ဆုံးရှုံးနစ်နာသူများ ဖြစ်ခဲ့ကြသည်တကား။ ၁

الَّذِينَ كَذَّبُوا شُعَيْبًا كَأَن لَّمْ يَغْنَوْا فِيهَا ۚ الَّذِينَ كَذَّبُوا شُعَيْبًا كَانُوا هُمُ الْخَاسِرِينَ ﴿٩٢﴾

➤➤ အလ္လာဟ်အရှင်မြတ်သည် အလိုတော်ရှိပါသော်" ဟူ၍ ချွင်းချက်ထား၍ ပြောဆိုခြင်းမှာ နဗီတမန်တော်များသည် မိမိတို့ကိုယ်ကို အလ္လာဟ်အရှင်မြတ်၏ ကျွန်ဖြစ်ကြောင်းကို အထင်အရှား ပြသခြင်းပင်ဖြစ်သည်။ ဤသည် နဗီများတွင် မရှိမဖြစ်သော ဂုဏ်အင်လက္ခဏာတရပ်ပင် ဖြစ်သည်။ ဤသို့သော အသုံးအနှုန်းများကို တမန်တော်ကြီးများသည်ပင် သုံးနှုန်းခဲ့ကြပေသည်။

(၁) တမန်တော်ရှုအိုက်ဗ်၏ အမျိုးသားများအနက် သွေဖည်ငြင်းဆန် မနာခံသော အမှားဝါဒီများက တမန်တော်ရှုအိုက်ဗ်နှင့် နောက်လိုက်တပည့်များအား မိမိတို့၏မြို့ရွာမှ နှင်ထုတ်ကြမည်ဟု ခြိမ်းခြောက်ခဲ့ကြ၏။ ယခုမူ ထိုခြိမ်းခြောက်သူများလည်း မရှိတော့ပေ ၊ ယင်းသူတို့၏ ရွာများလည်းမရှိတော့ပေ။ ယင်းအမှားဝါဒီများက တမန်တော်(ရှုအိုက်ဗ်)၏စကားကို နားထောင်သောသူများသည် ဆုံးရှုံးကြလိမ့်မည်ဟု ပြောဆိုခဲ့ကြ၏။ ယခုမူ ယင်းသို့ပြောဆိုသူများ ကိုယ်တိုင်ပင်လျှင် ဆုံးရှုံးကြလေပြီ။ ဤကား တရားယူရန်သခ်န်းစာ တရပ်ပင်။

فَتَوَلَّىٰ عَنْهُمْ وَقَالَ يَٰقَوْمِ لَقَدْ أَبْلَغْتُكُمْ رِسَٰلَٰتِ رَبِّى وَنَصَحْتُ لَكُمْ ۖ فَكَيْفَ ءَاسَىٰ عَلَىٰ قَوْمٍ كَٰفِرِينَ ٩٣

၉၃။ ထိုအခါ ယင်းနဗီတမန်တော်(ရှုအိုက်ဗ်)သည် ၎င်းတို့ထံမှ မျက်နှာလွှဲ၍ ထွက်ခဲ့လေသည်၊ ၎င်းပြင် "အို-ငါ၏အမျိုးသားတို့ ငါသည် ဧကန်စင်စစ် မိမိ အရှင်မြတ်က မှာကြားတော်မူလိုက်သော အမိန့် ပညတ်တော်များကို အသင်တို့ထံအရောက် ပို့ဆောင် ခဲ့ချေပြီ။ ၎င်းပြင် ငါသည် အသင်တို့၏ကောင်းကျိုး ကိုလည်း (မုချ) သယ်ပိုး ဆောင်ရွက်ခဲ့ပေပြီ။ သို့ဖြစ် ပေရာ ငါသည် သွေဖည်ငြင်းပယ်ကြကုန်သော အမျိုးသားတို့နှင့်ပက်သက်၍ အသို့လျှင် ဝမ်းနည်း ပူဆွေးရပါမည်နည်း" [၁] ဟုပြောကြားခဲ့လေသတည်း။

وَمَآ أَرْسَلْنَا فِى قَرْيَةٍ مِّن نَّبِىٍّ إِلَّآ أَخَذْنَآ أَهْلَهَا بِٱلْبَأْسَآءِ وَٱلضَّرَّآءِ لَعَلَّهُمْ يَضَّرَّعُونَ ٩٤

၉၄။ အမှန်သော်ကား၊ ငါအရှင်မြတ်သည် မည် သည့် မြို့ရွာသို့မဆို နဗီတမန်တော် တပါးပါးကို စေလွှတ်တော်မူခဲ့ပါလျှင် ထိုမြို့သူရွာသားတို့အား မာန်မာနကျိုး၍ အောက်ကျို့လာကြရန် ဆင်းရဲဒုက္ခ ဖြင့်လည်းကောင်း၊ ရောဂါဝေဒနာဖြင့်လည်းကောင်း၊ *နှိပ်ကွပ်တော်မူလေသည်။* [၂]

---

(၁) တမန်တော်ရှုအိုက်ဗ်(အလိုင်ဟစ္စလာမ်)သည် မိမိ၏အမျိုးသားများအား ဒေသနာတော်များကို ဟောကြား တော်မူ၏။ သွန်သင်ဆုံးမ ဩဝါဒပေးတော်မူ၏။ တန်းခိုးပြာဋိဟာလည်း ပြတော်မူ၏။ သွေဖည်ငြင်းဆန် မနာခံပါက ဖြစ်ပေါ်လာမည့် နှောင်ရေးများကိုလည်း ကြိုတင်သတိပေးတော်မူ၏။ အမျိုးမျိုး ဖျောင်းဖျတော်မူ၏။ အမျိုးမျိုး ခြိမ်းခြောက်တော်မူ၏။ သို့ရာတွင် ထိုသူများသည် သွေဖည်ငြင်းဆန်ခဲ့ကြ၏။ တခွန်းတပါဒကိုမျှ မနာခံခဲ့ကြပေ။ ယင်းသို့ သွေဖည်ငြင်းဆန် မနာခံခဲ့ကြသည်သာမက မိမိတို့၏ ကောင်းကျိုးလိုလားသော မိမိတို့၏အပေါ်၌ မေတ္တာကရုဏာထားသော တမန်တော်ကိုပင်လျှင် ရန်မူလာကြ၏။ နောက်ဆုံးတွင် ထိုအမျိုးသား များသည် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်သင့်ပြီး မရှုမလှ ပျက်စီး၍သွားခဲ့ကြလေသည်။ ထိုသို့သော အမျိုးသားများ ပျက်စီးသွားသည်မှာ ဝမ်းနည်းဖွယ်ရာမဟုတ်ပေ။ ထို့အတွက်ကြောင့်ပင် တမန်တော်ရှုအိုက်ဗ်က "သို့ဖြစ်ရာ ကျွန်ုပ်သည် သွေဖည်ငြင်းဆန် မနာခံသော အမျိုးသားများနှင့်ပတ်သက်၍ အသို့လျှင် ဝမ်းနည်းပူဆွေး ရပါမည်နည်း" ဟု ပြောကြားတော်မူခြင်းဖြစ်လေသည်။

(၂) အလ္လာဟ်အရှင်မြတ်သည် လူမျိုးအသီးသီးထံသို့ နဗီတမန်တော်များအား စေလွှတ်တော်မူခဲ့၏။ ယင်းသို့ စေလွှတ်တော်မူသည့်အခါ များသောအားဖြင့် လူများသည် တမန်တော်များ၏အဆုံး အမဩဝါဒများကို လက်မခံကြ ပေ၊ သွေဖည်ငြင်းဆန် မနာခံပဲနေကြ၏။ ပြိုင်ဆိုင်လာကြ၏။ ရန်မူလာကြ၏။ ထိုအခါ အလ္လာဟ် ➤➤

ثُمَّ بَدَّلْنَا مَكَانَ السَّيِّئَةِ الْحَسَنَةَ حَتّٰى عَفَوْا وَّقَالُوْا قَدْ مَسَّ اٰبَآءَنَا الضَّرَّآءُ وَالسَّرَّآءُ فَاَخَذْنٰهُمْ بَغْتَةً

၉၅။ ထိုနောက် ငါအရှင်မြတ်သည် မကောင်းသော အခြေအနေ၏အစား ကောင်းသော အခြေအနေကို ပြောင်းလဲ၍ ပေးတော်မူခဲ့လေသည်။ နောက်ဆုံးတွင်မူ ထိုသူတို့သည် တိုးတက်ကြီးပွားလာ၍ ဆင်းရဲဒုက္ခသည်လည်းကောင်း၊ သက်သာချောင်ချိမှုသည်လည်းကောင်း၊ ငါတို့၏ဘိုးဘေးဘီဘင်တို့၌လည်း သက်ရောက်မြဲပင် ဖြစ်ခဲ့သည်ဟူ၍ ပြောဆိုလာကြကုန်၏။

➤➤ အရှင်မြတ်သည် အစပထမတွင် သတိပေးတော်မူခြင်း သဘောမျိုးဖြင့် ၎င်းတို့တွင် ဆင်းရဲကျပ်တည်းမှု၊ ရောဂါဝေဒနာ၊ မိုးခေါင်ရေရှားပါးမှု စသည်ဖြင့် ဒုက္ခအမျိုးမျိုးဖြစ်ပွားစေတော်မူ၏။ ယင်းသို့ ဒုက္ခအမျိုးမျိုး ဖြစ်ပွားစေတော်မူခြင်း၏အကြောင်းမှာ အမိန့်တော်များကို သွေဖည်ငြင်းဆန် မနာခံသောသူများသည် ဒုက္ခအမျိုးမျိုး ခံစားကြပြီး ဆက်လက်၍ မဆိုးသွမ်းကြရန်နှင့် အလ္လာဟ်အရှင်မြတ်၏ဘက်တော်သို့ ယိမ်းညွတ် လာကြရန်ပင် ဖြစ်သည်။ ဤသို့ ဒုက္ခအမျိုးမျိုးပေး၍ သတိပေးတော်မူပါလျှက် လူများသည် သတိမရကြပဲ ဆိုးသွမ်းမြဲအတိုင်း ဆိုးသွမ်းနေကြပါလျှင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ဘဝအခြေအနေများကို ပြောင်းလဲတော်မူပြန်၏။ ထိုအရှင်မြတ်သည် ၎င်းတို့၏ဒုက္ခကို သုခနှင့် ပြောင်းပေးတော်မူ၏။ ၎င်းတို့၏ဆင်းရဲမှုကို ချမ်းသာကြွယ်ဝမှုနှင့် လဲပေးတော်မူ၏။ ဤသို့ ဘဝအခြေအနေများကို ပြောင်းလဲပေးတော်မူခြင်းမှာ ထိုဆိုးသွမ်းလျက်ရှိသော လူများသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို ခံစားကြရပြီး ထိုကျေးဇူးတော်များ၏ရှေ့တွင် မိမိတို့၏ ကျေးဇူးကန်းမှုများကို ရှက်ကြောက်ကြရန်နှင့် ထိုအရှင်မြတ်သည် ငါတို့အား မွေးမြူဖန်ဆင်းတော် မူသောအရှင်၊ မဟာကရုဏာတော်ရှင်၊ ဖြစ်တော်မူကြောင်း သိရှိကာ ထိုအရှင်မြတ်၏ ဒေသနာတော်များကို လိုက်နာကျင့်သုံးကြရန်ပင် ဖြစ်သည်။ ယင်းသို့မဟုတ်ပါမူ လူများသည် လောကီစည်းစိမ်များတွင် နစ်မွန်းပြီး အမြူးကြီးမြူး၍ အမေ့ကြီးမေ့ကာ အမှားကြီးမှားကြရန်ပင် ဖြစ်သည်။ တနည်းအားဖြင့် ချမ်းသာကြွယ်ဝမှု၊ ကျန်းမာမှု၊ သားသမီးအခြွေအရံပေါများမှု . . . . စသည့် လောကီစည်းစိမ်များ တိုးတက်လာသည်နှင့်အမျှ သွေဖည်ငြင်းဆန် မနာခံမှု၊ မောက်မာမှု၊ ပလွှားမှုများသည်လည်း တိုးတက်၍လာကြ၏။ ထိုအခြေသို့ ရောက်လာကြသည့်အခါ ထိုသို့ ဆိုးသွမ်းလျက်ရှိသောသူများက "ဒုက္ခနှင့်သုခ၏ အစဉ်အလာသည် ရှေးယခင်ကပင် ရှိခဲ့သည်။ တရားဒေသနာတော်များကို ငါတို့၏သွေဖည်ငြင်းဆန်မှုများနှင့် မည်သို့မျှ မသက်ဆိုင်ချေ။ သက်ဆိုင်သည်ရှိသော် ငါတို့သည် အသို့လျှင် ဤသို့သောသုခချမ်းသာများကို ခံစားနိုင်ကြအံ့နည်း။ ဒုက္ခသုခများသည် အကြောင်းအားလျော်စွာ ဖြစ်ပျက်သော အမှုကိစ္စများသာ ဖြစ်သည်။ ဤအမှုကိစ္စသည် အထူးအဆန်းမဟုတ်ပေ၊ ငါတို့၏ဘိုးဘေးဘီဘင်တို့တွင်လည်း ဖြစ်ပေါ်ခဲ့သည်" ဟုဆိုကြကာ ယခင်က တွေ့ကြုံခံစားခဲ့ကြရသော ဒုက္ခကြီးငယ်များကိုပင် မေ့ပျောက်ထားကြလေသည်။ ဤမျှ ဆိုးသွမ်းလာကြသည့်အခါ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား လောကီစည်းစိမ်များတွင် နစ်မွန်းပြီး အပျော်ကြီးပျော်နေကြသည့်အခိုက် ရုတ်တရက် ကွပ်မျက်တော်မူလေ့ရှိသည်။

ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၆း ၄၂-၄၅) တွင်လည်း မိန့်ဆိုထားတော်မူသည်။

وَّهُمۡ لَا يَشۡعُرُوۡنَ ﴿٩٥﴾

ထိုအခါ ငါ အရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့သတိမမူ အမှတ်မဲ့ဖြစ်နေခိုက် ရုတ်တရက် *ဖမ်းဆီး ကွပ်မျက်တော်မူခဲ့လေသတည်း။* ၁

وَلَوۡ اَنَّ اَهۡلَ الۡقُرٰٓى اٰمَنُوۡا وَاتَّقَوۡا لَفَتَحۡنَا عَلَيۡهِمۡ بَرَكٰتٍ مِّنَ السَّمَآءِ وَالۡاَرۡضِ وَلٰـكِنۡ كَذَّبُوۡا فَاَخَذۡنٰهُمۡ بِمَا كَانُوۡا يَكۡسِبُوۡنَ ﴿٩٦﴾

**၉၆**။ အကယ်၍သာ (နဗီတမန်တော်များ ပွင့်ခဲ့ကြလေသော) မြို့ရွာဒေသများ၌ မှီတင်းနေထိုင်ကြကုန်သောသူတို့သည် "အီမာန်" ယုံကြည်ခြင်း သဒ္ဓါတရားထားရှိကြ၍ ပြစ်မှုဒုစရိုက်များမှ ကြဉ်ရှောင်ခဲ့ကြပါမူ ငါ အရှင်မြတ်သည် ထိုသူတို့အဖို့ မိုးကောင်းကင်မှလည်းကောင်း၊ပထဝီမြေမှလည်းကောင်း၊ *မင်္ဂလာအဖြာဖြာတို့ကို မုချ ဖွင့်ပေးတော်မူခဲ့အံ့။* ၂ သို့ရာတွင်မူကား ၎င်းတို့သည်(နဗီတမန်တော် အသီးသီးတို့အား) မဟုတ်မမှန်ဟု စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့ ရှာဖွေဆည်းပူးခဲ့ကြသည့် (ပြစ်မှုဒုစရိုက်များ)ကြောင့် ဖမ်းဆီးကွပ်မျက်တော်မူခဲ့လေသတည်း။

---

(၁) ဤမုက္ခပါဌ်တော်၏ အဖွင့်တွင် "မိုဟက်ကေ့ကီန်" သုတေသီ ကဝိအမော် ပညာကျော်တို့က ဖွင့်ဆိုရေးသားခဲ့ကြသည်မှာ အလ္လာဟ်အရှင်မြတ်သည် နဗီတမန်တော်များအား သွေဖည်ငြင်းဆန် မနာခံသော သူယုတ်တို့ကို နောက်ဆုံးတွင် ပြစ်ဒဏ်ပေးတော်မူသည်သာ ဖြစ်သည်။ ယင်းသို့ ပြစ်ဒဏ်ပေးတော်မူခြင်းမှာ ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော် ထင်ရှားစေရန်နှင့် နဗီပြဿနာ ရှင်းလင်းသွားစေရန်ပင် ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် 'ဝလီ' သူတော်စင်များအားလည်း ဤသို့သောအကူအညီများကို အထင်အရှား ပေးတော်မူတတ်၏။ သို့ရာတွင် ဝလီများအားကူညီတော်မူခြင်းမှာ နဗီတမန်တော်များအား ကူညီတော်မူခြင်းကဲ့သို့ မုချ ကူညီတော်မူရကောင်းစေဟူ၍ကား မဟုတ်ပေ။ မာဂျိဒီ၊ အ-၂၊ စ-၃၄၆၊ အအ-၁၂၉။

(၂) အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို သွေဖည်ငြင်းဆန် မနာခံလိုသောသူများသည် နောက်ဆုံးတွင် ထိုအရှင်မြတ်၏ ကွပ်မျက်တော်မူခြင်းကို ခံကြရသည်သာ ဖြစ်၏။ ဤသည် "မည်သူမပြု မိမိမှု" ဆိုသကဲ့သို့ မိမိကျူးလွန်ထားသော အပြစ်၏ဒဏ်ကို မိမိကိုယ်တိုင်ခံရခြင်းသာ ဖြစ်ပေသည်။ အကယ်၍သာ ထိုသူများသည် အီမန်ယုံကြည်ကြလျှင်၊ တရားဒေသနာတော်များကို နာခံကြလျှင် တမန်တော်များ၏ အဆုံးအမ ဩဝါဒများကို နာခံကြလျှင် အမှန်တရားကို လိုက်နာကျင့်သုံးကြလျှင် "ကုဖ်" ကို ရှောင်ကြဉ်၍ "တက္ကဝါ" ကို လက်ဆုပ်လက်ကိုင်ပြုထားကြလျှင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား မိုးကောင်းကင်မှလည်းကောင်း၊ ပထဝီမြေပြင်မှ လည်းကောင်း၊ "ဗရကတ်" မင်္ဂလာ အဖြာဖြာ ကောင်းကျိုးအမျိုးမျိုးတို့ကို ရက်ရောစွာ ဖွင့်ထုတ်ချီးမြှင့်တော်မူမည်မှာ မုချဧကန် အမှန်ပင်တည်း။

أَفَأَمِنَ أَهْلُ الْقُرَىٰ أَن يَأْتِيَهُم بَأْسُنَا بَيَاتًا وَهُمْ نَائِمُونَ ٩٧

**၉၇။** သို့ပါလျက် (မက္ကာဟ်မြို့နှင့်တကွ ပတ်ဝန်းကျင်)*မြို့ရွာဒေသများ၌*[1] မှီတင်း နေထိုင်ကြကုန်သောသူတို့သည် ညဉ့်အခါ၌ ၎င်းတို့အိပ်ပျော်နေကြစဉ် ငါအရှင်မြတ်၏ပြစ်ဒဏ်သည် (ရုတ်တရက်) ၎င်းတို့ထံ ရောက်ရှိလာမည်ကို စိုးရိမ်ခြင်းကင်းမဲ့၍ စိတ်ချ၍နေကြပါသလော။

أَوَأَمِنَ أَهْلُ الْقُرَىٰ أَن يَأْتِيَهُم بَأْسُنَا ضُحًى وَهُمْ يَلْعَبُونَ ٩٨

**၉၈။** သို့တည်းမဟုတ် (ထိုမက္ကာဟ်မြို့နှင့် ပတ်ဝန်းကျင်)မြို့ရွာဒေသများ၌ မှီတင်းနေထိုင်ကြသူတို့သည် နံနက်နေတက်ချိန်တွင် ၎င်းတို့ ကစားခုန်စားလျက်ရှိနေကြစဉ် ငါအရှင်မြတ်၏ပြစ်ဒဏ်သည် (ရုတ်တရက်) ၎င်းတို့ထံသို့ရောက်ရှိလာမည်ကို ကြောင့်ကြခြင်းကင်းမဲ့၍ စိတ်ချပြီးနေကြပါသလော။

أَفَأَمِنُوا مَكْرَ اللَّهِ ۚ فَلَا يَأْمَنُ مَكْرَ اللَّهِ إِلَّا الْقَوْمُ الْخَاسِرُونَ ٩٩

**၉၉။** ၎င်းတို့သည် အလ္လာဟ် အရှင်မြတ်၏ လျှို့ဝှက်စွာ ကြံစည်မှုကို စိုးရိမ်ခြင်း ကင်းမဲ့ကာ စိတ်ချ၍နေကြပါသလော။ သို့ဖြစ်လျှင် နစ်နာဆုံးရှုံး*သူတို့မှအပ*[2] အလ္လာဟ်အရှင်မြတ်၏အကြံအစည်ကို စိုးရိမ်ကင်းမဲ့သူဟူ၍တဦးတယောက်မျှမရှိပြီ။

---

① ဤမုက္ခပါဌ်တော်တွင်ပါရှိသော မြို့ရွာသားများဟူသည် မက္ကာဟ်မြို့တော်နှင့် ထိုမြို့တော်၏ပတ်ဝန်းကျင်တွင် နေထိုင်ကြသောသူများကို ဆိုလိုသည်။ ဤအဆိုသည် ကျွန်ုပ်ထံတွင် အသင့်မြတ်ဆုံးသော အဆိုဖြစ်သည်။ "မှဟ်ယစ်စွန်နဟ်" ကလည်း ဤအတိုင်းပင်ဆိုသည်။ (ရူဟ်)

② ကုရ်အာန်ကျမ်းမြတ်၏ အသုံးအနှုန်းတွင် "ခါစိရူန်" နစ်နာဆုံးရှုံးသောသူများဟူသည် များသောအားဖြင့် ကာဖိရ်များကို ဆိုလိုသည်။ ဤသည့်သဘောကို ထောက်ထား၍ အလ္လာဟ်အရှင်မြတ်၏ လျှို့ဝှက်စွာကြံစည်မှုမှ စိတ်ချနေခြင်းသည် ကုဖ်ရ် ဖြစ်သည်ဟု မဖတ်စ်စစ်ရ်ပညာရှင် သုခမိန်တို့သည် ဤမုက္ခပါဌ်တော်ကို ကိုးကားဖွင့်ဆိုရေးသားကြသည်။

ဆုံးရှုံးနစ်နာကြရမည့် ကာဖိရ်များသာလျှင် အလ္လာဟ်အရှင်မြတ်၏ ကြံစည်မှု၊ ဖမ်းဆီးမှုမှ စိတ်ချ၍နေကြပေသည်။ မုအ်မင်န်တို့ကား မည်သည့်အချိန်အခါ၊ မည်သို့သောအခြေအနေမျိုး၌မျှ အလ္လာဟ်အရှင်မြတ်အား မမေ့ကြသည် မဟုတ်ပေ။

أَوَلَمْ يَهْدِ لِلَّذِينَ يَرِثُونَ الْأَرْضَ مِنْ بَعْدِ أَهْلِهَا أَن لَّوْ نَشَاءُ أَصَبْنَاهُم بِذُنُوبِهِمْ ۚ وَنَطْبَعُ عَلَىٰ قُلُوبِهِمْ فَهُمْ لَا يَسْمَعُونَ ﴿١٠٠﴾

**၁၀၀။** (ဤ)ပထဝီမြေ၌ နေထိုင်ခဲ့ကြသူများမရှိသည့်နောက် ယခု ဤပထဝီမြေကို အမွေဆက်ခံလျက်ရှိသူတို့အဖို့ အကယ်၍သာ ငါအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် ၎င်းတို့အားလည်း ၎င်းတို့၏ ပြစ်မှုများကြောင့် ဒုက္ခရောက်စေတော်မူမည် ဖြစ်ကြောင်း မထင်ရှားသေးပါသလော။ အမှန်သော်ကား ငါအရှင်မြတ်သည် ၎င်းတို့၏စိတ်နှလုံးများအပေါ်၌ တံဆိပ်ခတ်နှိပ်ထားတော်မူသဖြင့် ၎င်းတို့သည် (မှန်ကန်သောတရားဒေသနာတော်များကို) နားဆင်နိုင်ကြမည် မဟုတ်ချေ။

تِلْكَ الْقُرَىٰ نَقُصُّ عَلَيْكَ مِنْ أَنبَائِهَا ۚ وَلَقَدْ جَاءَتْهُمْ رُسُلُهُم بِالْبَيِّنَاتِ فَمَا كَانُوا لِيُؤْمِنُوا بِمَا كَذَّبُوا مِن قَبْلُ ۚ كَذَٰلِكَ يَطْبَعُ اللَّهُ عَلَىٰ قُلُوبِ الْكَافِرِينَ ﴿١٠١﴾

**၁၀၁။** ဤသည်တို့ကား(ရှေးဟောင်းခေတ်၏) အကြင်မြို့ရွာ ဒေသများပင်တည်း။ ငါ အရှင်မြတ်သည် ထိုမြို့ရွာဒေသများ၏ အချို့အတ္ထုပ္ပတ္တိများကို အသင့်ရှေ့ဝယ် ပြန်၍ ပြောကြားတော်မူလေသည်။ ဧကန်စင်စစ် ထိုမြို့ရွာဒေသတို့၌ မှီတင်းနေထိုင်သော သူတို့ထံ ၎င်းတို့၏ရစူလ်တမန်တော်များသည် ထင်ရှားလှစွာသော *သက်သေလက္ခဏာများနှင့်တကွ ရောက်ရှိလာခဲ့ကြလေသည်။* [၁]

သို့ရာတွင် ၎င်းတို့သည် ယခင်က(တကြိမ်) မိမိတို့ မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြသောအရာများကို ယုံကြည်မည့်သူများ မဟုတ်ခဲ့ကြချေ။ ဤနည်းအတိုင်းပင် အလ္လာဟ်အရှင်မြတ်သည် ကာဖိရ် *သွေဖည်ငြင်းပယ်သောသူတို့၏စိတ်နှလုံးများပေါ်၌ တံဆိပ်ခတ်နှိပ်တော်မူလေသတည်း။* [၂]

---

(၁) "၎င်းတို့ထံသို့ ၎င်းတို့၏တမန်တော်များသည် ထင်ရှားလှသော သက်သေလက္ခဏာတော်များနှင့်တကွ ရောက်ရှိလာခဲ့ကြချေပြီ" ဟူသော မုက္ခပါဋ်တော်ကို ထောက်ရှုခြင်းအားဖြင့် အာဒ်အမျိုးသား၊ ဆမူဒ်အမျိုးသား တမန်တော်နူဟ်၏အမျိုးသား၊ တမန်တော်လူတ်၏အမျိုးသား၊ မဒ်ယန်အမျိုးသားများထံသို့ စေလွှတ်ခြင်း ➤➤

၁၀၂။ အမှန်သော်ကား ငါအရှင်မြတ်သည် ၎င်းတို့ အနက် မြောက်မြားစွာသောသူတို့၌ ကတိသစ္စာ *တည်ကြည်မှုကို* [၁] တွေ့ရှိတော်မမူခဲ့ချေ၊ စင်စစ် တမူကား ငါ အရှင်မြတ်သည် ၎င်းတို့အနက် မြောက်မြားစွာသောသူတို့အား တရားလမ်းမှန်ကို ဖယ်ရှားသူများသာ တွေ့ရှိတော်မူခဲ့လေသတည်း။

وَمَا وَجَدْنَا لِأَكْثَرِهِم مِّنْ عَهْدٍ ۖ وَإِن وَجَدْنَا أَكْثَرَهُمْ لَفَاسِقِينَ ﴿١٠٢﴾

၁၀၃။ တဖန် ငါ အရှင်မြတ်သည် ထိုရစူလ် တမန်တော်များ၏နောက်တွင် (နဗီတမန်တော်) မူစာ အား *မိမိသက်သေလက္ခဏာတော်များနှင့်တကွ* [၂] ဖစ်ရ်အောင်န်နှင့် ၎င်း၏အကြီးအမှူးတို့ထံ စေလွှတ်တော်မူခဲ့ရာ ၎င်းတို့သည် ထိုသက်သေလက္ခဏာတော်များကို မထီမဲ့မြင် ပြုခဲ့ကြလေသည်။ သို့ဖြစ်ပေရာ ပျက်စီးရာ ပျက်စီးကြောင်း ပြုလုပ်ကြသူတို့၏ နောက်ဆုံးအဖြစ်သည် မည်သို့ဖြစ်ခဲ့သည်ကို အသင်ရှုပါလေ။

ثُمَّ بَعَثْنَا مِن بَعْدِهِم مُّوسَىٰ بِآيَاتِنَا إِلَىٰ فِرْعَوْنَ وَمَلَئِهِ فَظَلَمُوا بِهَا ۖ فَانظُرْ كَيْفَ كَانَ عَاقِبَةُ الْمُفْسِدِينَ ﴿١٠٣﴾

---

➤➤ ခံခဲ့ကြရသော တမန်တော်များသည်လည်း ထင်ရှားလှစွာသော တန်ခိုး ပြာဋိဟာများကို ယူဆောင်လာခဲ့ကြသည့်အကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။ တမန်တော်ဟူဒ်(အလိုင်ဟစ္စလာမ်)အား ၎င်း၏အမျိုးသားများက "အို-ဟူဒ်၊ အသင်သည် ကျွန်ုပ်တို့ထံသို့ ထင်ရှားသော လက္ခဏာတခုခုကို ယူ၍မလာခဲ့ပါ" ဟုပြောဆိုခြင်းမှာ မနာလိုမုန်းထား၍ ပြောဆိုခဲ့ခြင်းသာဖြစ်သည်။

(၂) အတိတ်ခေတ်ရှိ ကာဖိရ်များသည် အကြင်အရာကို တကြိမ်တခါ ငြင်းပယ်ခဲ့ကြဖူးလျှင် ထိုအရာနှင့်စပ်လျဉ်း၍ အဘယ်မျှ ကြီးမားထင်ရှားလှသော သက်သေလက္ခဏာ တန်ခိုးပြာဋိဟာများကို တွေ့မြင်ကြရလင့်ကစား "ဖူးဆို-ဖရုံမသီး" "ကျားကျားမီးယပ်" ဆိုသကဲ့သို့ အဘယ်နည်းနှင့်မျှ ထပ်မံလက်ခံကြသည်မရှိပေ။ လူမျိုးတမျိုးသည် အလ္လာဟ်အရှင်မြတ်၏ တရားဒေသနာတော်များနှင့်ပတ်သက်၍ ဤရွေ့ဤမျှ မနာလိုမုန်းထားမှု၊ ဖွတ်တရွတ်ပြုမှု၊ အရွဲ့တိုက်မှု၊ သွေဖည်ငြင်းဆန်မှုများ၊ ပြင်းထန်လာခဲ့လျှင် ယင်းသို့သောလူမျိုးများသည် မိမိတို့၏အမှားကို အဘယ်နည်းနှင့်မျှ ပြုပြင်နိုင်ကြတော့မည် မဟုတ်ပေ။ ဤမျှဆိုးသွမ်းသည့် အခြေအနေသို့ ရောက်ရှိသွားသည့်အခါ အလ္လာဟ်အရှင်မြတ်သည် စိတ်နှလုံးများအပေါ်တွင် တံဆိပ်ခတ်နှိပ်တော် မူလိုက်လေသတည်း။

(၁) ဤမုဗ္ဗာရက်ပါဌ်တော်တွင်ပါရှိသော ကတိတည်ရန် ဟူသည် လူသားတို့သည် ဖခင်ကြီးအာဒမ်၏ ကျောက်ကုန်း၌ ရှိစဉ်မှာပင် လူသားတို့ထံမှ အလ္လာဟ်အရှင်မြတ် ယူထားတော်မူခဲ့သည့် ကတိကိုဆိုသည်။ ဤသည် သာဝကကြီး အီဗ်နုအဗ္ဗာစ်သခင်၏ အဆိုတည်း။ (ကဗီရ်) ➤➤

وَقَالَ مُوسَىٰ يَٰفِرْعَوْنُ إِنِّى رَسُولٌ مِّن رَّبِّ ٱلْعَٰلَمِينَ ﴿١٠٤﴾

၁၀၄။ ၎င်းပြင် (နဗီတမန်တော်) မူစာက "အို-ဖစ်ရ်အောင်န်" ငါသည် ဧကန်စင်စစ် စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်မှ စေလွှတ်ခြင်းခံရသော ရစူလ်တမန်တော်တပါးပင်ဖြစ်ချေသည် ဟု ပြောကြားခဲ့လေ၏။

حَقِيقٌ عَلَىٰٓ أَن لَّآ أَقُولَ عَلَى ٱللَّهِ إِلَّا ٱلْحَقَّ قَدْ جِئْتُكُم بِبَيِّنَةٍ مِّن رَّبِّكُمْ فَأَرْسِلْ مَعِىَ بَنِىٓ إِسْرَٰٓءِيلَ ﴿١٠٥﴾

၁၀၅။ အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ (တစုံတရာကို ကြံဖန်လီဆယ် ပြောဆိုခြင်းမပြုပဲ)အမှန်ကိုသာပြောဆိုရန် ငါ၏အပေါ်၌ တာဝန်ရှိပေသည်။ ငါသည် ဧကန်စင်စစ် အသင်တို့ထံ အသင်တို့၏ အရှင်မြတ် အထံတော်မှ ထင်ရှားစွာသောသက်သေလက္ခဏာကို ယူဆောင်ခဲ့လေပြီ။ သို့ဖြစ်ပေရာ (အို-ဖစ်ရ်အောင်န်) အသင်သည် အစ္စရာအီလီအမျိုးသားတို့အား ငါနှင့်အတူ ထည့်လိုက်ပါ။

قَالَ إِن كُنتَ جِئْتَ بِـَٔايَةٍ فَأْتِ بِهَآ إِن كُنتَ مِنَ ٱلصَّٰدِقِينَ ﴿١٠٦﴾

၁၀၆။ ထိုအခါ ယင်း(ဖစ်ရ်အောင်န်)ကပြန်ပြောသည်မှာ (အို-မူစာ)အသင်သည် သက်သေလက္ခဏာတစုံတရာကို ယူဆောင်ခဲ့၍ မှန်ကန်စွာ ပြောဆိုသူတဦးဖြစ်ခဲ့ပါလျှင် ထိုသက်သေလက္ခဏာကို (ငါ၏ရှေ့ဝယ်)တင်ပြလော့ ဟု ပြန်ပြောလေ၏။

---

➤➤ ဤမုက္ခပါဌ်တော်တွင်ပါရှိသော ကတိဟူသည် ထိုသူများ (ကာဖိရ်များ) ဒုက္ခဆင်းရဲခြင်းနှင့် စိုးရိမ်မှုတွင် ကျရောက်ကြသည့်အခါ ထိုအရှင်မြတ်ထံတော်၌ (အီမာန်ယုံကြည်ကြပါတော့မည်)ဟု ပြုထားကြသော ကတိကိုဆိုသည်။

အလိုသဘောကား ထိုကာဖိရ်များအနက် အများစုသည် "အီမာန်"နှင့် စပ်လျဉ်း၍လည်းကောင်း၊ "တက္ကဝါ"နှင့် စပ်လျဉ်း၍ လည်းကောင်း၊ အလ္လာဟ် အရှင်မြတ်နှင့် ထားရှိကြသော ကတိကို ဖောက်ဖျက်ခဲ့သည် ဟူ၍။

② <u>မှတ်ချက်။</u>

ဤမုက္ခပါဌ်တော်ကို ထောက်ရှုခြင်းအားဖြင့် နဗီတမန်တော်တိုင်းတွင်သက်သေလက္ခဏာ တန်ခိုးပြဋ္ဌိဟာ တရပ်ရပ် မုချရှိရမည်မှာ အထင်အရှားသိနိုင်ပေသည်။

فَأَلْقَىٰ عَصَاهُ فَإِذَا هِيَ ثُعْبَانٌ مُّبِينٌ ﴿١٠٧﴾

**၁၀၇။** ထိုအခါ ထိုနဗီတမန်တော်(မူစာ)သည် မိမိ တောင်ဝှေးကို (မြေကြီးပေါ်သို့) ပစ်ချလေရာ ရုတ်တရက် ထိုတောင်ဝှေးသည် ထင်ရှားသောမြွေ(နဂါး) တကောင် ဖြစ်နေလေ၏။

وَنَزَعَ يَدَهُ فَإِذَا هِيَ بَيْضَاءُ لِلنَّاظِرِينَ ﴿١٠٨﴾

**၁၀၈။** ၎င်းပြင် ထိုနဗီတမန်တော်(မူစာ)သည် မိမိ လက်ကို (မိမိရင်တွင်း/ ချိုင်းကြားမှ) အပြင်သို့ဆွဲ၍ ထုတ်ခဲ့ရာ ရုတ်တရက် ထိုလက်မှာ ကြည့်ရှုသူတို့ ရှေ့တွင် ထွန်းတောက်လျက် ရှိနေလေသည်။ ၁

قَالَ الْمَلَأُ مِن قَوْمِ فِرْعَوْنَ إِنَّ هَٰذَا لَسَاحِرٌ عَلِيمٌ ﴿١٠٩﴾

**၁၀၉။** ဖစ်ရ်အောင်န်၏ အမျိုးသားများအနက်မှ အကြီးအမှူးတို့သည် (ဤသည့် တန်ခိုးပြာဋိဟာများ ကိုတွေ့မြင်ကြသောအခါ) မုချဧကန် ဤသူသည် တဘက်ကမ်းခတ် တတ်မြောက်သော ပဉ္စလက်ဆရာ တဦးပင်ဖြစ်သည်ဟု ပြောဆိုကြကုန်သည်။

يُرِيدُ أَن يُخْرِجَكُم مِّنْ أَرْضِكُمْ ۖ فَمَاذَا تَأْمُرُونَ ﴿١١٠﴾

**၁၁၀။** ၎င်းသည် (မိမိ ပဉ္စလက်ပညာ၏အစွမ်းဖြင့်) အသင်တို့အား အသင်တို့၏နယ်မြေ(ဝါ)တိုင်းပြည်မှ ထုတ်ပစ်ရန် ကြံရွယ်လျက်ရှိနေလေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် (ဤကိစ္စနှင့်စပ်လျဉ်း၍) မည်သို့ အကြံပေးလိုကြသနည်း။

قَالُوا أَرْجِهْ وَأَخَاهُ وَأَرْسِلْ فِي الْمَدَائِنِ حَاشِرِينَ ﴿١١١﴾

**၁၁၁။** ထိုအခါ ယင်း(ဖစ်ရ်အောင်န်၏မှူးမတ်)တို့က (ဖစ်ရ်အောင်န်အား ဤသို့)လျှောက်ထားအကြံဉာဏ် ပေးကြလေသည်။ ၎င်းနဗီတမန်တော်(မူစာ)နှင့်၎င်း၏ နောင်တော် နဗီတမန်တော်ဟာရူန်)အား ဆိုင်းခွင့်ပေး ပါ။ ဆိုင်းငံ့၍ထားပါ။ ထို့ပြင် အမြို့မြို့အရွာရွာသို့ မင်းစေများကို စေလွှတ်ပါ။

---

(၁) တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)သည် အသားညိုဖြစ်တော်မူ၏။ တမန်တော်မူစာသည် မိမိ၏လက်ကို ရင်တွင်သော်လည်းကောင်း၊ ချိုင်းအောက်တွင်သော်လည်းကောင်း၊ ထည့်သွင်း၍ ပြန်လည်ထုတ်လိုက် ➤➤

يَأْتُوكَ بِكُلِّ سَٰحِرٍ عَلِيمٍ ﴿١١٢﴾

၁၁၂။ ထိုမင်းစေများသည် ဘုရင်မင်းမြတ်၏ထံသို့ (တဘက်ကမ်းခတ်) ကျွမ်းကျင် တတ်မြောက်သော ပဥ္စလက်ဆရာအပေါင်းတို့ကို (ရှာဖွေ) ခေါ်ဆောင် လာကြပေမည်။

وَجَآءَ ٱلسَّحَرَةُ فِرْعَوْنَ قَالُوٓا۟ إِنَّ لَنَا لَأَجْرًا إِن كُنَّا نَحْنُ ٱلْغَٰلِبِينَ ﴿١١٣﴾

၁၁၃။ ထို့နောက်ပဥ္စလက်ဆရာတို့သည် ဖင်ရ်အောင်န် ထံသို့ ရောက်ရှိလာခဲ့ကြလေသည်။ ထိုပဥ္စလက် ဆရာတို့က အကယ်၍ ကျွန်တော်မျိုးတို့သည် အောင်နိုင်ခဲ့ကြပါလျှင် (ကြီးကျယ်သော) ဆုလာဘ် *တခုခုကို မုချ ရရှိကြပါလိမ့်မည်(လော)* [၁] ဟုပြောဆို ကြလေသည်။

قَالَ نَعَمْ وَإِنَّكُمْ لَمِنَ ٱلْمُقَرَّبِينَ ﴿١١٤﴾

၁၁၄။ ထိုအခါ ယင်း(ဖစ်ရ်အောင်န်)က (ပြန်၍) ပြောဆိုသည်မှာ "ဟုတ်ပေသည်၊ (အသင်တို့သည် ဆုလာဘ်များကို မုချ ရရှိမည်)။ ၎င်းပြင် ထိုသို့ ဖြစ်ခဲ့လျှင် အသင်တို့သည် (ငါနှင့်အတူ) လက်ပွန်း တတီးနေထိုင် (ချစ်ကျွမ်း)သူတို့တွင်လည်း မုချ အပါအဝင် ဖြစ်ကြလတ္တံ့" ဟု ပြောဆိုလေ၏။

**(တနည်း)**

(ထိုအခါ) ယင်း (ဖစ်ရ်အောင်န်)က "ကောင်း၏" (အသင်တို့ တောင်းဆိုကြသည့်အတိုင်း ဆုလာဘ်တော် ကိုလည်း ငါပေးမည်။) ထို့ပြင်တဝ အသင်တို့သည် အပါးတော်၌ ရာထူးဌာနန္တရဖြင့် မြှောက်စားခြင်း ခံရသူများ၊ လူယုံတော်များလည်း မုချဖြစ်ကြပေမည်ဟု ပြောဆိုလေ၏။

---

➤➤ သည့်အခါ ထိုလက်သည် လင်းဝင်းတောက်ပလျက်ရှိ၏။ လက်၏ရောင်ခြည်သည် နေ၏ရောင်ခြည်ကို ဖုံးအုပ်လွှမ်းမိုးလျက်ရှိ၏။

(၁) ဖစ်ရ်အောင်န်၏မှော်ဆရာများက ပွဲဦးစ၌ပင် "အကယ်၍ ကျွန်တော်မျိုးတို့ အောင်နိုင်ကြလျှင် ကြီးကျယ်သော ဆုလာဘ်တစ်ခုခုကို မုချ ရရှိကြမည်လော"ဟု ပြောဆိုပြီး မိမိတို့သည် ငွေကြေးကို အဓိကထားသော ➤➤

قَالُوا يَٰمُوسَىٰٓ إِمَّآ أَن تُلْقِىَ وَإِمَّآ أَن نَّكُونَ نَحْنُ ٱلْمُلْقِينَ ﴿١١٥﴾

**၁၁၅။** ထိုပဉ္စလက်ဆရာများက အို-မူစာ အသင်သည် (မိမိ၏တောင်ဝှေးကို ဦးစွာပထမ) ချပြပါ။ သို့မဟုတ် ကျွန်ုပ်တို့သည် (မိမိ၏ ဒုတ်များနှင့် ကြိုးများကို ဦးစွာပထမ) ချပြကြရပါမည်လော ဟု ပြောဆိုကြ၏။

قَالَ أَلْقُوا۟ ۖ فَلَمَّآ أَلْقَوْا۟ سَحَرُوٓا۟ أَعْيُنَ ٱلنَّاسِ وَٱسْتَرْهَبُوهُمْ وَجَآءُو بِسِحْرٍ عَظِيمٍ ﴿١١٦﴾

**၁၁၆။** ထိုတမန်တော်(မူစာ)က၊ အသင်တို့သည် ပင်လျှင် ပစ်ချလေကုန်ဟု ပြောကြားလေ၏။ ထို့နောက် ၎င်း(ပဉ္စလက်ဆရာ)တို့သည် (မိမိတို့ လှင်ကန်များနှင့် ကြိုးများကို) ပစ်ချကြ၍ လူတို့၏ မျက်စိများကို လှည့်စားကြလေသည်။ ၎င်းပြင် ထိုသူတို့အား ကြောက်လန့်စေ ခဲ့ကြလေသည်။ စင်စစ်သော်ကား ၎င်းတို့သည် *ကြီးကျယ်သော စုန်းပယောဂကို* [၁] ဆောင်ယူခဲ့ကြလေသတည်း။

---

➤➤ ကြေးစားများဖြစ်ကြောင်း ထုတ်ဖော်လိုက်ကြ၏။ နဗီတမန်တော်များမှာမူကား ယင်းသို့မဟုတ်ကြပေ။ တရားဓမ္မဟောကြားရာတွင် စကားဦးအစ ပဏာမ၌ပင် "ကျွန်ုပ်သည် ထိုတရားဓမ္မနှင့်ပတ်သက်၍ အသင်တို့ထံမှ အနည်းငယ် စိုးစဉ်းမျှ အခမတောင်းပါ။ ကျွန်ုပ်၏အခသည် အလ္လာဟ်အရှင်မြတ်အထံတော်၌ရှိပါသည်" ဟု တမန်တော်များက ထုတ်ဖော်ပြောဆို ကြေညာလေ့ရှိခဲ့ကြသည့်အလျောက် နဗီ တမန်တော် မူစာကလည်း ယင်းသို့ပင် ပြောကြားခဲ့လေသည်။ နဗီ တမန်တော်များကား သာသနာရေးတွင် စေတနာ့ဝန်ထမ်း သက်သက် ဖြစ်ကြပေသည်။

(၁) ဖစ်ရ်အောင်န် ဆင့်ခေါ်ထားသော မှော်ဆရာ မျက်လှည့်ဆရာများသည် တတ်ကျွမ်းသူများဖြစ်ကြ၏။ ၎င်းတို့သည် မိမိတို့၏ တောင်ဝှေးများနှင့်ကြိုးများကို မြေပေါ်သို့ပစ်ချကာ မြွေများကဲ့သို့ လှုပ်ရှားသွားလာနေသည်ဟု ထင်မြင်လာအောင် ပြုစွမ်းနိုင်ကြ၏။ လှည့်စားနိုင်ကြ၏။ ဤကား မျက်လှည့်သာဖြစ်ချေသည်။ ဖြစ်ရပ်အမှန် မဟုတ်ပေ။

တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)၏ တောင်ဝှေးသည် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်နှင့် တောင်ဝှေးစင်စစ်မှ မြွေစင်စစ်ဖြစ်လာခဲ့၏။ ဤကား မျက်လှည့်မဟုတ် "မုအ်ဂျိဇဟ်" တန်ခိုးပြာဋိဟာတည်း။

ကုရ်အာန်ကျမ်းမြတ်၏အဆိုအရ ယင်းမှော်ဆရာများ၏ တောင်ဝှေးများသည် တကယ်စင်စစ် မြွေ မဖြစ်။ မြွေများကဲ့သို့ လှုပ်ရှားသွားလာသည်ဟု ထင်မြင်အောင် မျက်စိလှည့်စားထားခြင်းသာ ဖြစ်သည်။ မုဖတ်စ်စစ်ရ် ပညာရှင်သုခမိန်တို့သည်လည်း ဤအတိုင်းပင် တညီတညွတ်တည်း ဆိုကြသည်။

(ကြည့် – အီဗ်နုကဆီရ်၊ မဒါရစ်က်၊ ကုရ်တုဗီ)

وَأَوْحَيْنَآ إِلَىٰ مُوسَىٰٓ أَنْ أَلْقِ عَصَاكَ ۖ فَإِذَا هِىَ تَلْقَفُ مَا يَأْفِكُونَ ﴿١١٧﴾

**၁၁၇။** ထိုအခါ ငါအရှင်မြတ်သည် (နဗီတမန်တော်) မူစာထံ အသင်သည် မိမိလှင်ကန်တောင်ဝှေးကို ပစ်ချလော့ ဟူ၍ အမိန့်တော် ထုတ်ပြန်တော်မူခဲ့လေသည်။ သို့ဖြစ်ရာ နဗီတမန်တော်(မူစာ)သည် မိမိလှင်ကန်တောင်ဝှေးကို ပစ်ချလေရာ) ထိုလှင်ကန်တောင်ဝှေးသည် ရုတ်တရက် (မြွေနဂါးကြီးဖြစ်လာပြီး) ထိုမျက်လှည့်ဆရာများ လှည့်စားကြသည့် အရာများကို မျိုလေတော့သည်။

فَوَقَعَ ٱلْحَقُّ وَبَطَلَ مَا كَانُوا۟ يَعْمَلُونَ ﴿١١٨﴾

**၁၁၈။** သို့ဖြစ်ပေရာ အမှန်သည်ထင်ရှားခဲ့ပြီ၊ ၎င်းပြင် ထို(ပဉ္စလက်ဆရာ)တို့ ပြုလုပ်ထားသော အမှုကိစ္စတို့သည် အချည်းနှီး ပျက်စီးသွားချေပြီ။

فَغُلِبُوا۟ هُنَالِكَ وَٱنقَلَبُوا۟ صَٰغِرِينَ ﴿١١٩﴾

**၁၁၉။** သို့ဖြစ်၍ ၎င်း(ဖစ်ရ်အောင်န်နှင့် ယင်း၏ မျိုးမတ်)တို့သည် ထိုနေရာ၌ပင် အရေးရှုံးနိမ့်ခဲ့သည့်ပြင် ကျိုးယုတ်ရှက်ရလည်း ဖြစ်ခဲ့ကြရလေသည်။

وَأُلْقِىَ ٱلسَّحَرَةُ سَٰجِدِينَ ﴿١٢٠﴾

**၁၂၀။** ထို့ပြင် ပဉ္စလက်ဆရာတို့သည် မှောက်လဲ *ဦးချသွားခဲ့ကြလေသည်။* ၁

---

(၁) ဖစ်ရ်အောင်န်၏ ပဉ္စလက်ဆရာများသည် တမန်တော်မူစာပြသသောအရာသည် မျက်လှည့်၊ လက်လှည့်၊ ပဉ္စလက်မဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော် တန်ခိုးပြာဋိဟာဖြစ်သည်ကို မျက်ဝါးထင်ထင် တွေ့မြင်ခဲ့ကြ၏။ ယင်းပဉ္စလက်ဆရာများ၏ အကြီးအကဲက "ငါတို့သည် မိမိတို့၏ ပဉ္စလက်အတတ်ဖြင့် လူများအား လှည့်စားနိုင်ခဲ့ကြသည်။ အောင်နိုင်ခဲ့ကြသည်။ သို့အောင်နိုင်ရာတွင် ငါတို့၏ပဉ္စလက်ဆိုင်ရာ ကိရိယာတန်ဆာပလာများသည် ပျက်စီးပျောက်ပျက်သွားသည်မရှိ ကျန်ရှိနေခဲ့သည်သာဖြစ်သည်။ ယခုမူ ငါတို့၏ ကိရိယာတန်ဆာပလာ အားလုံးသည် ပျောက်ခြင်းကြီးမလှ ပျောက်ပျက်သွားချေပြီ၊ အကယ်၍ (တမန်တော်) မူစာပြသောအရာသည် ပဉ္စလက်သာဖြစ်လျှင် ငါတို့၏ကိရိယာတန်ဆာပလာများ အဘယ်မှာနည်း။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် အရာခပ်သိမ်းတို့ကို ပြောင်းလဲနိုင်တော်မူသော တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသော အရှင်တပါးရှိကြောင်း၊ ထိုအရှင်သည် မိမိ၏တန်ခိုးတော်ကို တမန်တော်မူစာမှ တဆင့် ပြသတော်မူကြောင်း၊ (တမန်တော်)မူစာသည် ထိုအရှင်မြတ်၏တမန်တော် အစစ်အမှန်ဖြစ်ကြောင်း သိရှိရပေသည်"ဟု ဝေဖန်ပိုင်းခြား ပြောကြားခဲ့၏။ ထိုအခါ ယင်း ပဉ္စလက်ဆရာ အားလုံးတို့သည် အမြင်မှန်ရလာပြီး မိမိတို့၏ အမှားများကို ဝန်ချတောင်းပန် အသနားခံကာ အလ္လာဟ် အရှင်မြတ်အား သဒ္ဓါကြည်ဖြူစွာဖြင့် အီမာန် ယုံကြည်လာခဲ့ကြပေသည်။

قَالُوْٓا اٰمَنَّا بِرَبِّ الْعٰلَمِيْنَ ۙ﴿۱۲۱﴾

၁၂၁။ ၎င်းတို့က "ကျွန်ုပ်တို့သည် စကြာဝဠာ ခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အား ယုံကြည်ကြပါပြီ" ဟု ပြောဆိုကြလေသည်။

رَبِّ مُوْسٰى وَهٰرُوْنَ ﴿۱۲۲﴾

၁၂၂။ နဗီတမန်တော်(မူစာ)နှင့် နဗီတမန်တော်(ဟာရူန်)တို့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်(အား ယုံကြည်ကြလေပြီ)။ [၁]

**တနည်း။**

(ထိုအရှင်မြတ်သည်) တမန်တော်(မူစာ)နှင့် တမန်တော်(ဟာရူန်)တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်လည်း (ဖြစ်တော်မူသည်)။

قَالَ فِرْعَوْنُ اٰمَنْتُمْ بِهٖ قَبْلَ
اَنْ اٰذَنَ لَكُمْ ۚ اِنَّ هٰذَا لَمَكْرٌ
مَّكَرْتُمُوْهُ فِى الْمَدِيْنَةِ لِتُخْرِجُوْا
مِنْهَآ اَهْلَهَا ۚ فَسَوْفَ
تَعْلَمُوْنَ ﴿۱۲۳﴾

၁၂၃။ ထိုအခါ ဖစ်ရ်အောင်န်က ငါသည် အသင်တို့အားခွင့်မပြုမီပင် အသင်တို့သည် ထို(မူစာနှင့်ဟာရူန်တို့၏)အရှင်အား (တနည်း)(မူစာ)အား သက်ဝင်ယုံကြည်ခဲ့ကြချေပြီလော။ ဤသည်ကား ဧကန်စင်စစ် *ပရိယာယ်မာယာကာရတစ်ရပ်ပင် ဖြစ်ချေသည်။* [၂] အသင်တို့သည် ယင်းပရိယာယ်မာယာကာရကို မြို့ထဲ၌ ထိုမြို့တွင် နေထိုင်ကြသောသူတို့အား မြို့တွင်းမှ ထုတ်ပစ်ကြရန် (မူစာနှင့် လျှို့ဝှက်စွာ ပူးပေါင်း၍) ကြံစည်ခဲ့ကြကုန်သည်။ သို့ဖြစ်ပေရာ မကြာမြင့်မီပင် အသင်တို့သည် (အကြောင်း) သိရှိကြ(ရပေလိမ့်)မည်ဟု ပြောဆို ကြိမ်းဝါးခဲ့လေသတည်း။

(၁) ဖစ်ရ်အောင်န်၏မှော်ဆရာများက အလ္လာဟ်အရှင်မြတ်အား အီမာန် သက်ဝင်ယုံကြည်ကြသည့်အကြောင်း ထုတ်ဖော်ပြောဆိုရာတွင် "ကျွန်ုပ်တို့သည် စကြာဝဠာအဝှန်းကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်အား အီမာန် ယုံကြည်ကြပါပြီ။ (ထိုအရှင်မြတ်သည်) တမန်တော်မူစာနှင့် တမန်တော်ဟာရူန်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်(လည်း)ဖြစ်တော်မူသည်" ဟုဆိုကြ၏။ ဤမုကွပါဠ်တော်တွင် "စကြာဝဠာအဝှန်းကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်" ဟူသောဂုဏ်ပုဒ်ကို "တမန်တော်မူစာနှင့် တမန်တော်ဟာရူန်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်" ဟူသောဂုဏ်ပုဒ်ဖြင့် ဝိသေသပြုထားခြင်းမှာ အကြောင်းမဲ့ မဟုတ်ပေ။ ➢➢

لَأُقَطِّعَنَّ أَيْدِيَكُمْ وَأَرْجُلَكُمْ مِّنْ خِلَافٍ ثُمَّ لَأُصَلِّبَنَّكُمْ أَجْمَعِينَ ﴿١٢٤﴾

၁၂၄။ ငါသည် မုချမလွဲ အသင်တို့၏လက်များကိုလည်းကောင်း၊ အသင်တို့၏ခြေများကိုလည်းကောင်း၊ (ဝဲယာ)လွှဲ၍ ဖြတ်တောက်မည်။ ထို့နောက် ငါသည် မုချဧကန် *အသင်တို့ အားလုံးကို လက်ဝါးကပ်တိုင်တင်မည်။* ၁

---

➤➤ ဖစ်ရ်အောင်န်သည် မိမိကိုယ်ကို "ငါသည် အသင်တို့၏ အကြီးကျယ်ဆုံးသော အရှင်သခင်ဖြစ်သည်" ဟု လိမ်လည်၍ ဝါကြွားခဲ့၏။ ဤအကြောင်း ကုရ်အာန်(၇၉း၂၄)တွင် ပါရှိ၏။ ထိုသို့သောအခြေအနေတွင် အကယ်၍သာ ( رَبِّ الْعٰلَمِيْنَ )ဟူသောဂုဏ်ပုဒ်ကို ( رَبِّ مُوْسٰى وَهٰرُوْنَ )ဟူသောဂုဏ်ပုဒ်နှင့် ဝိသေသပြုမထားပါလျှင် မသိနားမလည်သောသူများက ( رَبِّ الْعٰلَمِيْنَ )ဟူသော ဂုဏ်ပုဒ်သည် ဖစ်ရ်အောင်န်အား ရည်ညွှန်းသည်ဟူ၍ ထင်မှားသွားနိုင်ကြသည်။ ထို့အတွက်ကြောင့်ပင် ဤမုက္ခပါဌ်တော်၌ ( رَبِّ الْعٰلَمِيْنَ ) ဟူသော ဂုဏ်ပုဒ်ကို ( رَبِّ مُوْسٰى وَهٰرُوْنَ )ဟူသောဂုဏ်ပုဒ်နှင့် တွဲဖက်မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။ (ကြည့်-ထာနဝီ)

(၂) ဖစ်ရ်အောင်န်သည် တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)နှင့် ပြိုင်ဆိုင်ရာတွင် မရှုမလှ ရှုံးနိမ့်ချေပြီ၊ အရှက်တကွဲ အကျိုးနည်းလည်းဖြစ်ရချေပြီ၊ ထိုအချိန်တွင် ဖစ်ရ်အောင်န်သည် မိမိ၏အရှက်ကို ဖုံးအုပ်ရန်၊ ရှုံးနိမ့်မှုကို ကာကွယ်ရန်နှင့် နောက်လိုက်ငယ်သားတို့အား ဖြားယောင်းရန်အတွက် ဤသို့လျှင် အကွက်ဆင်လေသည်။

"မူစာသည် မှော်ဆရာများ၏အကြီးအကဲဖြစ်သည်။ မူစာသည် ပရိယာယ်အားဖြင့် မိမိတပည့်များကို ပထမငါတို့ထံ လွှတ်လိုက်သည်။ ပြိုင်ဆိုင်သည့်အချိန် ကျရောက်သောအခါ ထိုတပည့်များသည် မူစာအား အတည့်အလင်း အရှုံးပေးလိုက်ကြသည်။

ဤသို့ပရိယာယ်ဆင်ခြင်းမှာ တိုင်းသူပြည်သားတို့သည် ၎င်းတို့အား အထင်ကြီးကြစေရန်ပင်ဖြစ်သည်။ ပြီးနောက် ဤတိုင်းပြည်မှ တိုင်းရင်းသားများကို နှင်ထုတ်၍ ၎င်းတို့ကိုယ်တိုင် ဤတိုင်းပြည်ကို မင်းလုပ်အုပ်ချုပ်ရန်ဖြစ်သည်" ဟူ၏။

ဖစ်ရ်အောင်န်သည် အထက်တွင်ဖော်ပြပါအတိုင်း၊ အဘယ်သို့လျှင် အကွက်ဆင်၍ မိမိ၏နောက်လိုက်ငယ်သားတို့အား လှည့်ဖြားသော်လည်း အကြောင်းကား မထူးပေ။ နောက်ဆုံးတွင် ဖစ်ရ်အောင်န်နှင့် ၎င်း၏ဘက်တော်သားများသည် ၎င်းတို့စိုးရိမ်ခဲ့ကြသည့်အရာများကိုပင် ကိုယ်တိုင်တွေ့ကြုံ ခံစားခဲ့ကြရလေသည်။ ဤအကြောင်းကို ကုရ်အာန်ကျမ်းမြတ် (၂၈း၅-၆) တွင် မိန့်ဆိုထားတော်မူသည်။

(၁) ဤကား ဖစ်ရ်အောင်န်၏ ခြိမ်းခြောက် ကြိမ်းဝါးချက်ပင်ဖြစ်သည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်အား အီမာန် ယုံကြည်ထားကြသော ထိုမှော်ဆရာများအဖို့မှာကား ဖစ်ရ်အောင်န်၏ ကြိမ်းဝါးချက်သည် အဆံမရှိ၊ အသံအတိသာ ဖြစ်လေပြီ။

ဤမုက္ခပါဌ်တော်တွင် ပါရှိသည့်အတိုင်း ဖစ်ရ်အောင်န်က ကြိမ်းဝါးသောအခါ မှော်ဆရာများက ရှေ့တွင်လာရှိသော မုက္ခပါဌ်တော် ၂-ပါး၌ ပါရှိသည့်အတိုင်း တည်ကြည်ရဲရင့်စွာ ဖြေကြားကြလေသည်။

قَالُوٓا۟ إِنَّآ إِلَىٰ رَبِّنَا مُنقَلِبُونَ ﴿١٢٥﴾

၁၂၅။ ထိုအခါယင်း(ပဉ္စလက်ဆရာ)တို့က "ကျွန်ုပ်တို့သည် ဧကန်မလွဲ မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်သို့ပင် ပြန်သွားကြရမည့်သူများသာဖြစ်ကြသည်ဟု ပြောဆိုကြကုန်သည်။ ¹

وَمَا تَنقِمُ مِنَّآ إِلَّآ أَنْ ءَامَنَّا بِـَٔايَٰتِ رَبِّنَا لَمَّا جَآءَتْنَا ۚ رَبَّنَآ أَفْرِغْ عَلَيْنَا صَبْرًا وَتَوَفَّنَا مُسْلِمِينَ ﴿١٢٦﴾

၁၂၆။ စင်စစ်သော်ကား အသင်သည် ကျွန်ုပ်တို့အား ကျွန်ုပ်တို့ထံ ကျွန်ုပ်တို့အရှင်မြတ်၏ သက်သေလက္ခဏာများ ရောက်ရှိလာသောအခါ ကျွန်ုပ်တို့ ယုံကြည်လက်ခံကြသည်ကိုသာလျှင် တုံ့ပြန်လက်စားချေသည်သာဖြစ်ပေသည်။

(ထို့နောက် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အထံတော်၌ ဤသို့ ဆုမွန်ပတ္ထနာ ပြုကြကုန်၏။) "အို-ကျွန်တော်မျိုးတို့၏အရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အပေါ်၌ ကြံ့ခိုင်မှုကိုသွန်းလောင်း၍ ပေးသနားတော်မူပါ။ ၎င်းပြင် အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား (မွတ်စ်လင်မ်) အမိန့်တော်ကို လိုက်နာသူများအဖြစ် သေဆုံးစေတော်မူပါ"။

(၁) ထိုအချိန်တွင် မှော်ဆရာများသည် အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုးပြီး ဖြစ်ကြ၏။ ထိုအရှင်မြတ်အား ဖူးမြော်ရန်ဆန္ဒလည်း ရှိကြ၏။ "ဂျန္နတ်"နှင့်"ဂျဟန္နမ်"သည် ၎င်းတို့၏ မျက်မှောက်တွင် တွေ့မြင်နေရဘိအလား ဖြစ်ရှိ၏။ သို့ဖြစ်ပေရာ ထိုမှော်ဆရာများသည် ဖစ်ရ်အောင်န်၏ ခြိမ်းခြောက်မှုများကို အသို့လျှင် စိုးရိမ်ကြောက်ရွံ့ကြမည်နည်း။ အလျင်း စိုးရိမ်ကြမည်မဟုတ်ပေ။ ထို့အတွက်ကြောင့်ပင် ထိုမှော်ဆရာ များက ဖစ်ရ်အောင်န်အား 'ကိစ္စမရှိပါ၊ အသင်လုပ်စရာရှိသည်ကိုလုပ်ပါ၊ သတ်ပါ၊ ကားစင်တင်ပါ၊ ကျွန်ုပ်တို့ မကြောက်ပါ၊ ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ် အထံတော်သို့ ပြန်လည်ရောက်ကြရမည့်သူများ ဖြစ်ပါသည်။ အသင့်ပယောဂကြောင့်ပင် ဖြစ်ပါစေ၊ အသင်သည် ကျွန်ုပ်တို့အား ယခုကဲ့သို့ လက်စားချေခြင်းမှာ အခြားအကြောင်းကြောင့်မဟုတ်၊ ကျွန်ုပ်တို့ထံ ကျွန်ုပ်တို့၏အရှင်မြတ်၏ သက်သေလက္ခဏာတော်များ ရောက်ရှိလာသောအခါ ထိုသက်သေလက္ခဏာတော်များကို ကျွန်ုပ်တို့ ယုံကြည်လက်ခံကြသည့်အတွက်ကြောင့်ပင် ဖြစ်သည်။ ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော်များကို ယုံကြည်ကြသည့်အတွက် အသင့်ထံတွင် ပြစ်မှုကျူးလွန်သော တရားခံများဖြစ်ကြရပြီ။ သို့အတွက် ကျွန်ုပ်တို့သည် အသင်၏ နှိပ်စက်ညှဉ်းပန်းမှုများကို ခံနိုင်ရန်နှင့် အသက်ထက်ဆုံး မွတ်စ်လင်မ်အဖြစ်နှင့်နေ၍ မွတ်စ်လင်မ်အဖြစ်နှင့်ပင် သေဆုံးရန်အတွက်လည်း ထိုအရှင်မြတ်အထံတော်၌မှာပင် ဆုတောင်းပတ္ထနာပြုကြပါသည်' ဟု တည်ကြည်ရဲဝံ့စွာ ပြောဆိုကြလေသည်။ ➢➢

وَقَالَ الْمَلَأُ مِنْ قَوْمِ فِرْعَوْنَ أَتَذَرُ مُوسَىٰ وَقَوْمَهُ لِيُفْسِدُوا فِي الْأَرْضِ وَيَذَرَكَ وَآلِهَتَكَ ۚ قَالَ سَنُقَتِّلُ أَبْنَاءَهُمْ وَنَسْتَحْيِي نِسَاءَهُمْ وَإِنَّا فَوْقَهُمْ قَاهِرُونَ ﴿١٢٧﴾

၁၂၇။ ထို့နောက် ဖစ်ရ်အောင်န်၏ အမျိုးသားတို့ အနက်မှ မှူးမတ်တို့က (ဤသို့)ပြောဆိုကြလေသည်။ အသင်သည် မူစာနှင့် ယင်း၏အမျိုးသားတို့ကို တိုင်းပြည်တွင် ပျက်စီးရာပျက်စီးကြောင်း ပြုလုပ်နိုင်ကြရန်လည်းကောင်း၊ ထို တမန်တော်(မူစာ)သည် အသင်နှင့်တကွ *အသင်၏ကိုးကွယ်ရာများကိုပါ*[၁] စွန့်ပစ်ထားရန်လည်းကောင်း၊ (ဤအတိုင်းပင်)လွှတ်၍ ထားပါမည်လော။ [၂]

ထိုအခါ ယင်း(ဖစ်ရ်အောင်န်)က (ဤသို့ပြန်လည်)ပြောကြားလေသည်။ ငါတို့သည် မကြာမီ ၎င်းတို့၏ သားယောကျ်ားကလေးများကို သတ်ဖြတ်ကြမည်။ သို့ရာတွင် ၎င်းတို့၏ အမျိုးသမီးများကိုမူကား (ခိုင်းစေနိုင်ရန်အတွက် သတ်ဖြတ်ခြင်းမပြုပဲ) အသက်ချမ်းသာခွင့်ပေးထားကြမည်။ အမှန်သော်ကား ငါတို့သည် ၎င်းတို့အား နိုင်နင်း လွှမ်းမိုးသူများပင် ဖြစ်ကြသည်။

➤➤ နောင်တမလွန်ဘဝ၌ရှိသော အပြစ်ဒဏ်သည် အတိုင်းမသိ ပြင်းထန်၏။ ဤပစ္စုပ္ပန်ဘဝ၌ရှိသော အပြစ်ဒဏ်သည် သာမန်ပင်ဖြစ်၏။ အလ္လာဟ်အရှင်မြတ်၏ အချစ်တော်များအဖို့ ထိုအရှင်မြတ်၏လမ်းတော်၌ တွေ့ကြုံခံစားကြရမည့် ဘေးဒုက္ခများသည် အဘယ်မျှပင် ကြီးမားများပြားစေကာမူ ထိုဘေးဒုက္ခများကို ရင်ဆိုင်ရန်ကား မခဲယဉ်းပေ။

(၁) ဖစ်ရ်အောင်န်သည် မိမိကိုယ်ကိုမိမိ "ငါသည် အသင်တို့၏ အကြီးဆုံးသောအရှင်သခင်ဖြစ်သည်ဟု" ဝါကြွားပြောဆိုခဲ့၏။ ဤအကြောင်း ကုရ်အာန်ကျမ်းမြတ် (၇၉း၂၄)တွင်ပါရှိ၏။ ယင်းသို့ ဝါကြွားခဲ့သည့်အတွက်ကြောင့် ဖစ်ရ်အောင်န်သည် မိမိ၏ဝါကြွားမှုနှင့်အညီ မိမိသည် အကြီးဆုံးသော အရှင်သခင် ဖြစ်ရှိနိုင်ရန်အတွက် မိမိထက်ငယ်သော ကိုးကွယ်ရာများကိုလည်း သတ်မှတ်ပြုလုပ်ထားခဲ့ပေသည်။ ထိုကဲ့သို့ ဖစ်ရ်အောင်န် သတ်မှတ်ပြုလုပ်ထားသော ကိုးကွယ်ရာအငယ်စားများကိုပင် ဤမုကွ္ဒပါဌ်တော်တွင် "အသင်၏ကိုးကွယ်ရာများ" (ဝါ) အသင်သတ်မှတ် ပြုလုပ်ထားသော ကိုးကွယ်ရာများဟု မိန့်ဆိုထားတော်မူသည်။

အချို့ပညာရှင်များက ဖစ်ရ်အောင်န်သည် နွားအစရှိသည့် တိရစ္ဆာန်များ၏ ရုပ်လုံးများကို ကိုးကွယ်ရာ အငယ်စားများအဖြစ် သတ်မှတ်ပြုလုပ်ထားခဲ့သည်ဟု ဆိုကြသည်။ အချို့ပညာရှင်များက ဤမုကွ္ဒပါဌ်တော်တွင် ပါရှိသော ကိုးကွယ်ရာများဟူသည် နေနှင့် နက္ခတ်တာရာများကို ဆိုလိုသည်ဟု ဆိုကြသည်။ ➤➤

قَالَ مُوسَىٰ لِقَوْمِهِ اسْتَعِينُوا بِاللَّهِ وَاصْبِرُوا ۖ إِنَّ الْأَرْضَ لِلَّهِ يُورِثُهَا مَن يَشَاءُ مِنْ عِبَادِهِ ۖ وَالْعَاقِبَةُ لِلْمُتَّقِينَ ﴿١٢٨﴾

**၁၂၈**။ ထိုနဗီတမန်တော် (မူစာ)က မိမိအမျိုးသားတို့အား (အချင်းတို့)အသင်တို့သည် အလ္လာဟ်အရှင်မြတ်ထံတော်မှ အကူအညီကို အသနားခံကြလေကုန်။ ၎င်းပြင် အသင်တို့သည် (ထိုအရှင်မြတ်၏ တရားလမ်းစဥ်၌) တည်ကြည်ကြံ့ခိုင်စွာ ရှိကြလေကုန်။ ဧကန်စင်စစ် (ဤ)ကမ္ဘာမြေသည် အလ္လာဟ်အရှင်မြတ်စိုးပိုင်တော်မူသော ကမ္ဘာမြေပြင်သာ ဖြစ်ချေသည်။ ထိုအရှင်မြတ်သည် ယင်းကမ္ဘာမြေကို မိမိ၏ကျွန်တို့အနက် *အလိုရှိတော်မူသောသူအား စိုးပိုင်စေတော်မူလေသည်။* ၁

➤➤ အချို့ပညာရှင်များကမူ ဖစ်ရ်အောင်န်သည် လူအများကိုးကွယ်ရန်အတွက် မိမိ၏ ပုံတူရုပ်လုံးများကို ပြုလုပ်၍ တိုင်းပြည်တွင် ဖြန့်ချီဝေငှထားသည်ဟု ဆိုကြသည်။

အသို့ပင်ဖြစ်စေကာမူ အချုပ်သဘောမှာ ဖစ်ရ်အောင်န်သည် မိမိကိုယ်ကိုမိမိ အကြီးဆုံးသော အရှင်သခင်ဟူ၍ကား ဝါကြွားပြောဆိုခဲ့၏။ ထို့ပြင်တဝ ကုရ်အာန်ကျမ်းမြတ် (၂၈း၃၈)တွင်ပါရှိသည့်အတိုင်း ဖစ်ရ်အောင်န်က "အသင်တို့အဖို့ ငါမှတပါး အခြားကိုးကွယ်ရာရှိသည်ကို ငါမသိ" ဟုဆိုကာ အလ္လာဟ်အရှင်မြတ်တည်ရှိတော်မူခြင်းကိုပင် ငြင်းဆိုခဲ့လေသည်။ မိုက်လေစွတကား။

(၂) တမန်တော်မူစာ အလိုင်ဟစ္စလာမ်၏ တန်ခိုးပြာဋိဟာကို လူအများ အထင်အရှား တွေ့မြင်ကြသောအခါ မှော်ဆရာများသည် ဦးချကြလေသည်။ အစ္စရာအီလီမျိုးနွယ်ဝင်များသည်လည်း တမန်တော်မူစာအား ထောက်ခံလာကြလေသည်။ ထို့ပြင်မက ဖစ်ရ်အောင်န်၏အမျိုးသားများဖြစ်သော "ကစ်ဗ်တီ" အီဂျစ်တိုင်းရင်းသားများအနက် အချို့တို့သည်လည်း တမန်တော်မူစာဘက်သို့ ယိမ်းယိုင်၍ လာခဲ့ကြပေသည်။ ဤသည့်အခြင်းအရာများကို ဖစ်ရ်အောင်န်၏ မှူးမတ်များသိမြင်ကြသောအခါ စိုးရိမ်မကင်းဖြစ်ပြီး ဖစ်ရ်အောင်န်အား ဤသို့ လျှောက်ထားကြလေသည်။ "အသင်သည် မူစာနှင့် ၎င်း၏အမျိုး သားများကို တိုင်းပြည်တွင် ဆူပူသောင်းကျန်းနိုင်ကြရန်အတွက် လျစ်လျူရှုထားမည်လော။ ယင်းသို့ လျစ်လျူရှုထားလျှင် ၎င်းတို့သည် တိုင်းသူပြည်သား လူအများတို့ကို မိမိဘက်သို့ ဆွဲဆောင် ကြလိမ့်မည်။ ပြီးနောက် အသင့်အား ပုန်ကန် တော်လှန်ပြီး၊ တိုင်းပြည်ကို သိမ်းပိုက်ကြလိမ့်မည်။ ဘုရင်မင်းမြတ်အား ကိုးကွယ်ခြင်းကိုလည်းကောင်း၊ ဘုရင်မင်းမြတ်၏ ရုပ်တုများအား ကိုးကွယ်ခြင်းကိုလည်းကောင်း၊ ပိတ်ပင် တားမြစ်ကြလိမ့်မည်" ဟု လျှောက်ထားပြီး၊ အကြမ်းဘက် နှိပ်ကွပ်ရန် လှုံ့ဆော်ပေးကြလေသည်။

ဤမုကွ္ခပါဠ်တော်နှင့်ဆက်စပ်၍ ကုရ်အာန် (၁၀း၇၅-၈၂) ကိုလည်း ရှုပါကုန်။)

(၁) အထက်တွင် ရေးသားဖော်ပြခဲ့သည့်အတိုင်း ဖစ်ရ်အောင်န်သည် အစ္စရာအီလီမျိုးနွယ်ဝင်တို့အနက် သားယောကျ်ားများကို သတ်ဖြတ်ရန် တဖန် ဆုံးဖြတ်လိုက်ပြန်၏။ ဤသည့်အကြောင်းကို ကြားသိကြသော အစ္စရာအီလီ မျိုးနွယ်ဝင်များသည် ကြောက်ရွံ့စိုးရိမ်လျက်ရှိကြ၏။ ထိုအခါ တမန်တော်မူစာ(အလိုင်ဟစ္စလာမ်) ➤➤

သို့ရာတွင် နောက်ဆုံးအကျိုးသည် (အလ္လာဟ် အရှင်မြတ်အား) ကြောက်ရွံ့ရိုသေ ခန့်ညားသော သူတော်စင်များ အဖို့သာ ဖြစ်သည်ဟု ပြောဆိုခဲ့လေသည်။

**၁၂၉။** ထိုအခါ ၎င်းနဗီတမန်တော်(မူစာ)၏ အမျိုးသားတို့က အို-နဗီတမန်တော်(မူစာ) ကျွန်ုပ်တို့သည် အသင်ကျွန်ုပ်တို့ထံ မရောက်မီကလည်း ညှဉ်းပန်းနှိပ်စက်ခြင်းကို ခံခဲ့ကြရသည်။ အသင်ကျွန်ုပ်တို့ထံ ရောက်လာပြီးနောက်တွင်လည်း *ညှဉ်းပန်းနှိပ်စက်ခြင်းကို ခံနေကြရပါသည်ဟု ပြောဆိုကြလေသည်။* ၁

قَالُوْٓا اُوْذِيْنَا مِنْ قَبْلِ اَنْ تَاْتِيَنَا وَمِنْ بَعْدِ مَا جِئْتَنَا ؕ قَالَ عَسٰى رَبُّكُمْ اَنْ يُّهْلِكَ عَدُوَّكُمْ وَيَسْتَخْلِفَكُمْ فِى

➤➤ က ယင်းသို့ စိုးရိမ်ကြောက်ရွံ့လျက်ရှိသော မိမိ၏အမျိုးသားများအား အချင်းတို့၊ မစိုးရိမ်ကြကုန်လင့်၊ အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင် မည်သူတစ်ဦးတစ်ယောက်မျှ မော်နိုင်မောက်နိုင်သည်မရှိ။ ကမ္ဘာမြေကို အလ္လာဟ်အရှင်မြတ်သာလျှင် စိုးပိုင်တော်မူသည်။ ဖစ်ရ်အောင်န်ကား စိုးပိုင်သည်မဟုတ်ချေ။ ထိုအရှင်မြတ်သည် မိမိအလိုတော်ရှိသူအား ထိုကမ္ဘာမြေကို ချီးမြှင့်တော်မူသည်။ ယခု ဤတိုင်းပြည်တွင် ဖစ်ရ်အောင်န်အား အုပ်ချုပ်မှုပေးအပ်ထားတော်မူခြင်းမှာ ခေတ္တခဏ၊ ယာယီမျှသာဖြစ်သည်။ သို့ဖြစ်ပေရာ အသင်တို့သည် ကျူးကျော်စော်ကားလျက်ရှိသော ဖစ်ရ်အောင်န်အား ပြိုင်ဆိုင်ရာတွင် အလ္လာဟ်အရှင်မြတ်အထံတော်၌ အကူအညီ ရရှိပါရန် အသနားခံကြကုန်။ ထိုအရှင်မြတ်၏လမ်းတော်တွင် တွေ့ကြုံရသော ဒုက္ခကြီးငယ် အားလုံးတို့ကို ကျော်လွှန်၊ အောင်နိုင်ရန်အတွက် တည်ကြည်ကြံ့ခိုင်စွာ ရှိကြကုန်။ နောက်ဆုံး၌ အောင်မြင်မှုသည် ထိုအရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားသော သူတော်စင်များအဖို့သာဖြစ်သည်ကို ယုံကြည်ထားကြကုန်ဟု သွန်သင်ဆုံးမ ဩဝါဒပေးလေသည်။

၁ တဖန် အစ္စရာအီလီမျိုးနွယ်ဝင်များက လွန်စွာပူပန်သောကဖြစ်၍ တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)အား ကျွန်ုပ်တို့သည် အမြဲတစေပင် နှိပ်စက်ညှဉ်းပန်းခြင်းကို ခံနေကြရပြီ၊ အသင်ကျွန်ုပ်တို့ထံ မရောက်မီကလည်း ကျွန်ုပ်တို့သည် နှိပ်စက်ခြင်းကို ခံခဲ့ကြရသည်။ သားယောကျ်ားကလေးများလည်း သတ်ဖြတ်ခြင်း ခံခဲ့ကြရသည်။ အသင်ရောက်လာပြီးသည့်နောက်ပိုင်းတွင်လည်း နှိပ်စက်ညှဉ်းပန်းခြင်းကို ခံနေကြရပါသည်။ ယခုတဖန် ဖစ်ရ်အောင်န်သည် သားယောကျ်ားကလေးများကို သတ်ဖြတ်ရန် ဆွေးနွေးနေပြန်ပြီ။ ကျွန်ုပ်တို့၏ ဒုက္ခသည် ဘယ်အခါကျမှ ကုန်ဆုံးပါမည်နည်းဟု ညည်းညူပြောဆိုကြလေသည်။ ထိုအခါ တမန်တော်မူစာက စိတ်မပျက်ကြနှင့်၊ အလ္လာဟ်အရှင်မြတ်၏ ဆောင်မတော်မူခြင်းသည် မကြာမီအတွင်း ရောက်ရှိလာတော့မည်။ ထိုအရှင်မြတ်သည် မကြာမီအတွင်း အသင်တို့၏ရန်သူကို သေကြေ(ပျက်စီးစေပြီး ၎င်းတို့နေထိုင်သောနယ်မြေနှင့်) ၎င်းတို့၏ ဥစ္စာပစ္စည်းများကို အသင်တို့အား ပေးအပ်တော်မူမည်ဖြစ်သည်။ ပြီးနောက် ယနေ့ ညှဉ်းပန်းခြင်းခံစားရမှု၊ ကျွန်ဖြစ်မှုများဖြင့် အသင်တို့အစမ်းအသပ်ခံနေကြရသကဲ့သို့ လွတ်လပ်မှု၊ ချမ်းသာမှု၊ အဖြာဖြာတို့နှင့် ➤➤

الْأَرْضِ فَيَنْظُرَ كَيْفَ تَعْمَلُونَ ﴿١٢٩﴾

(ထိုအခါ) နဗီတမန်တော်(မူစာ)က (အချင်းတို့) အသင်တို့အား မွေးမြူဖန်ဆင်းတော်မူသော အရှင်မြတ်သည် မကြာမီ အသင်တို့၏ရန်သူကို သေကျေပျက်စီးစေတော်မူ၍ အသင်တို့အား တိုင်းပြည်တွင် အုပ်စိုးစေတော်မူမည်ဖြစ်သည်။ ထို့နောက် အသင်တို့သည် မည်သို့ကျင့်မူကြသည်ကို ရှုစားတော်မူလိမ့်မည်ဟု ပြောကြားလေသည်။

وَلَقَدْ أَخَذْنَا آلَ فِرْعَوْنَ بِالسِّنِينَ وَنَقْصٍ مِنَ الثَّمَرَاتِ لَعَلَّهُمْ يَذَّكَّرُونَ ﴿١٣٠﴾

**၁၃၀။** ၎င်းပြင် ငါအရှင်မြတ်သည် ဧကန်စင်စစ် ဖစ်ရ်အောင်န်၏ အမျိုးသားတို့အား နှောင်တတရား ရစိမ့်သောငှာ မိုးခေါင်ရေရှားစေခြင်းဖြင့်လည်းကောင်း၊ သစ်သီးဝလံ ရှားပါးစေခြင်းဖြင့် လည်းကောင်း၊ ဖမ်းဆီး *ကွပ်နှိပ် အပြစ်ပေးတော်မူခဲ့လေသည်။* [၁]

---

➤➤ အသင်တို့ ပြည့်စုံကြသည့် အခါ အသင်တို့သည် ထို အရှင်မြတ်၏ ကျေးဇူးတော် များကို အဘယ်မျှ သိကြသည်ကို ထို အရှင်မြတ်သည် ကြည့်ရှုတော်မူမည် ဖြစ်သည်ဟု ပြန်လည် ဖြေကြားလေသည်။

ဤ မုကဒ္ဒပါဌ်တော်တွင် ပါရှိသော တိုင်းပြည်ဟူသည် အီဂျစ်ပြည်ကိုသာ ဆိုလိုသည်မဟုတ်။ ဆီရီယပြည်၊ ပါလစ်တိုင်းပြည် အစရှိသဖြင့် အဘယ် ပြည်မှာပင်ဖြစ်စေ၊ အစ္စရာအီလီ အမျိုးသားများ လွတ်လပ်စွာဖြင့် အချုပ်အချာ အာဏာပိုင်ဖြစ်ခြင်းသည် ဤ မုကဒ္ဒပါဌ်တော်ပါ ကတိတော် အတည်ဖြစ်ရန် အတွက် လုံလောက်ပေသည်။

(၁) ကုရ်အာန်ကျမ်းမြတ် (၇:၁၂၇) တွင် "အသင်တို့၏အရှင်သည် မကြာမီအတွင်း အသင်တို့၏ ရန်သူများကို သေကြေပျက်စီးစေတော်မူလိမ့်မည်" ဟု မိန့်ဆိုထားတော်မူ၏။ ယခု ဤမုကဒ္ဒပါဌ်တော်တွင် ထိုသို့ သေကျေပျက်စီးစေတော်မမူမီအလျင် ပဏာမ သတိပေးတော်မူသည့်အနေဖြင့် အချို့ကပ်များ သက်ရောက်စေတော်မူခဲ့သည့် အကြောင်းကို မိန့်ဆိုထားတော်မူသည်။

ကုရ်အာန်ကျမ်းမြတ် (၇:၉၄)တွင် ပါရှိသည့်အတိုင်း လူသားများ ကြို့ငဲ့နိမ့်ချ ကျိုးနွံလာကြရန်အတွက် အလ္လာဟ်အရှင်မြတ်သည် ဘေးဒုက္ခများနှင့် ရောဂါဝေဒနာများကို သက်ရောက်စေတော်မူလေ့ရှိသည်။ ဤသည် "စွန္နတုလ္လာဟ်" အလ္လာဟ်အရှင်မြတ်၏ အလေ့တော်တည်း။ ထိုအလေ့တော်အတိုင်း ဖစ်ရ်အောင်န်၏ အမျိုးသားများ နှောင်တတရားရရှိကာ တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)၏ အဆုံးအမဩဝါဒများကို လက်ခံနာယူကြရန်အတွက် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ထံသို့ ပဏာမအဖြစ် မိုးခေါင်ရေရှားစေခြင်းကပ်၊ စပါးသီးနှံရှားပါးခြင်းကပ်၊ စသည့် သာမန်ဘေးဒုက္ခများကို သက်ရောက်စေတော်မူခဲ့လေသည်။ သို့ရာတွင် ဖစ်ရ်အောင်န်၏ အမျိုးသားများသည် ယင်းသို့ သတိပေးတော်မူခြင်းများကိုပင် အမှုမထားပဲ ပို၍ပင် ဆိုးမိုက်လာခဲ့ကြ၏။ မိုက်တွင်းသည် နက်သည်ထက် နက်လာခဲ့၏။



فَإِذَا جَآءَتۡهُمُ ٱلۡحَسَنَةُ قَالُواْ لَنَا هَٰذِهِۦۖ وَإِن تُصِبۡهُمۡ سَيِّئَةٞ يَطَّيَّرُواْ بِمُوسَىٰ وَمَن مَّعَهُۥٓۗ أَلَآ إِنَّمَا طَٰٓئِرُهُمۡ عِندَ ٱللَّهِ وَلَٰكِنَّ أَكۡثَرَهُمۡ لَا يَعۡلَمُونَ ١٣١

**၁၃၁။** သို့ရာတွင် ၎င်းတို့သည် မိမိတို့၌ ကောင်းမွန်သောအခြေအနေ ဆိုက်ရောက်ခဲ့သောအခါ ဤသည် ငါတို့အဖို့ (ဝါ) ငါတို့၏ ကံ, ဉာဏ်, ဝီရိယတို့ကြောင့်ဖြစ်သည်ဟု ပြောဆိုကြလေသည်။ တဖန် အကယ်၍ ၎င်းတို့၌ ဘေးဥပဒ်တစုံတရာ သက်ရောက်ခဲ့ပါမူ ၎င်းတို့က နဗီတမန်တော်(မူစာ)ကြောင့်လည်းကောင်း၊ ထိုတမန်တော်မူစာနှင့်အတူ ရှိကုန်သောသူတို့ကြောင့်လည်းကောင်း၊ (လာဘ်ပိတ်သည်)ဟု မကောင်းသော အတိတ်နမိတ် ကောက်ယူကြသည်။ (အို-ကြားနာသူအပေါင်းတို့၊ အသင်တို့သည် ကောင်းမွန်စွာ)မှတ်ယူကြလေကုန်၊ ၎င်း(ဖစ်ရ်အောင်န်၏အမျိုးသား)တို့၏ လာဘ်ပိတ်မှု(အကြောင်း)သည် အလ္လာဟ်အရှင်မြတ်၏ထံတော်၌ရှိသည်။ သို့ရာတွင် ၎င်းတို့အနက်များစွာသောသူတို့သည် (ဤမှုလောက်ထင်ရှားလှစွာသောအကြောင်းကိုပင်) မသိနားမလည်ကြပေ။

---

➤➤ ကုရ်အာန်ကျမ်းမြတ် (၇း၉၅)တွင် လာရှိသည့်အတိုင်း ၎င်းတို့၏ဒုက္ခကို သုခနှင့် ပြောင်းလွှဲပေးတော်မူလိုက်သောအခါတွင် ၎င်းတို့သည် (ကျေးဇူးတင်ရှိကြမည့်အစား) ဤသည် ကျွန်ုပ်တို့ခံစားသင့် ခံစားအပ်သောအကျိုး၊ ကျွန်ုပ်တို့၏ကံ၊ ဉာဏ်၊ ဝီရိယ၏အကျိုး၊ ကျွန်ုပ်တို့နှင့်ထိုက်တန်သော လာဘ်ဖြစ်သည်ဟု ပြောဆိုကြသည်။ တဖန် ဒုက္ခနှင့်ရင်ဆိုင်ကြရသောအခါ ဤသည် မူစာနှင့်မူစာ၏ နောက်လိုက်တပည့်သားတို့၏ အမင်္ဂလာ၊ မကောင်းသော နိမိတ်လက္ခဏာ၊ မကောင်းသော အတိတ်နိမိတ်တို့ကြောင့်ဖြစ်သည်ဟု စွပ်စွဲပြောဆိုကြသည်။ အမှန်မှာ ၎င်းတို့စွပ်စွဲပြောဆိုကြသည့် မကောင်းသောအတိတ်နိမိတ်သည် အလ္လာဟ်အရှင်မြတ်၏ နှစ်သက်တော်မူခြင်းကိုခံကြရသော တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)နှင့်သော်လည်းကောင်း၊ ထိုတမန်တော်၏ နောက်လိုက်တပည့်သားများနှင့်သော်လည်းကောင်း၊ မည်သို့မျှမပတ်သက်ချေ။ ၎င်းတို့၏မကောင်းသော အတိတ်နိမိတ်၏အကြောင်းရင်းကို အလ္လာဟ်အရှင်မြတ် သိတော်မူသည်။ ထိုအကြောင်းရင်းကား အခြားမဟုတ်၊ ၎င်းတို့၏သွေးဖည်ငြင်းဆန် မနာခံခြင်း၊ ကျူးလွန်ခြင်း၊ ဆိုးသွမ်းခြင်းများပင်ဖြစ်သည်။ ထိုသို့ ဆိုးသွမ်းခြင်းကြောင့်ပင် ထိုအရှင်မြတ်သည် လောလောဆယ်အားဖြင့် ၎င်းတို့ထံသို့ အချို့ဘေးဒုက္ခများကို ပဏာမအဖြစ် သက်ရောက်စေတော်မူခဲ့လေသည်။ အတိအကျ အပြစ်ဒဏ်များကား ထိုအရှင်မြတ်၏အထံတော်၌ အသင့်ရှိသည်။ အချိန်ကျရောက်လာသည့်အခါ ဤပစ္စုပ္ပန်ဘဝ၌ဖြစ်စေ၊ နောင်တမလွန်ဘဝ၌ဖြစ်စေ၊ ၎င်းတို့သည် ထိုအပြစ်ဒဏ်များကို အပြည့်အဝ ခံစားကြရမည်မှာ မုချမလွဲပင်။ ဤသည့် အကြောင်းကို ၎င်းတို့အနက် မြောက်မြားစွာသောသူများသည် မသိကြသေးပေ။

**၁၃၂။** ၎င်းပြင် ထို(ဖစ်ရ်အောင်န်၏ အမျိုးသား)တို့က (ဤသို့) ပြောဆိုကြကုန်၏။ (အို-မူစာ) အသင်သည် ကျွန်ုပ်တို့အား ပြုစားရန် မည်သို့ပင်သက်သေ လက္ခဏာများကို ကျွန်ုပ်တို့ ရှေ့ဝယ် ယူဆောင်၍ လာသော်ငြားလည်း ကျွန်ုပ်တို့မှုကား *အသင့်အား ယုံကြည်ကြမည် မဟုတ်ပေ။* [၁]

وَقَالُوا مَهْمَا تَأْتِنَا بِهِ مِنْ آيَةٍ لِّتَسْحَرَنَا بِهَا فَمَا نَحْنُ لَكَ بِمُؤْمِنِينَ ﴿١٣٢﴾

**၁၃၃။** သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ၎င်းတို့အပေါ်၌ *လေပြင်းမုန်တိုင်း* [၂] ကိုလည်းကောင်း၊ ကျိုင်းကောင်များကိုလည်းကောင်း၊ ပိုးမွှားများ၊ သန်းကောင်များကိုလည်းကောင်း၊ ဖားများ(ဖားပြုတ်များ)ကိုလည်းကောင်း၊ သွေးများကိုလည်းကောင်း၊ အသီးသီးအသက ထင်ရှားသောသက်သေလက္ခဏာများအဖြစ်ပို့တော်မူခဲ့လေသည်။ သို့ပါလျက် မထီမဲ့မြင်(ပြုမြဲ)ပြုလျက်ပင် ရှိခဲ့ကြလေသည်။ စင်စစ်သော်ကား ၎င်းတို့သည် *ပြစ်မှုကျူးလွန်(လေ့ရှိ)သူများပင် ဖြစ်ကြကုန်သတည်း။* [၃]

فَأَرْسَلْنَا عَلَيْهِمُ الطُّوفَانَ وَالْجَرَادَ وَالْقُمَّلَ وَالضَّفَادِعَ وَالدَّمَ آيَاتٍ مُّفَصَّلَاتٍ فَاسْتَكْبَرُوا وَكَانُوا قَوْمًا مُّجْرِمِينَ ﴿١٣٣﴾

---

(၁) အမှန်တရားကို သွေဖည်ဆန့်ကျင်ရာတွင် မနာလိုမုန်းတီးမှု၊ ဇွတ်တရွတ်ပြုမှုများသည် စည်းမဲ့ကမ်းမဲ့ ထိန်းမနိုင် သိမ်းမရဖြစ်ပြီး မည်သည့်နည်းနှင့်မဆို ဆန့်ကျင်ရန်ပင် စိတ်ပိုင်းဖြတ်ထားလိုက်သောအခါ လူ၏ အတွေးအခေါ် အမြော်အမြင်သည် ရပ်ပျက်ဆင်းပျက် အပျက်ကြီးပျက်ပြီး အလွန်မှန်ကန်သောတရား၊ အလွန်ထင်ရှားသောစကားကိုပင် ဇွတ်မှိတ်၍ငြင်းပယ်လေ့ရှိသည်။ တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)၏ လက်ထက်ရှိ ကာဖိရ်များသည်လည်း တမန်တော်မူစာ (အလိုင်အစ္စလာမ်)၏ အဆုံးအမ ဩဝါဒများကို လက်ခံနာယူရေးကိစ္စတွင် မနာလိုမုန်းတီးမှု၊ ဇွတ်တရွတ်ပြုမှုများကြောင့်ပင်လျှင် အမှန်ကိုအမှန်ဟူ၍ သိပါလျက်နှင့် သွေဖည်ငြင်းပယ်ခဲ့ကြလေသည်။

ဖစ်ရ်အောင်န်၏ နောက်လိုက်တပည့်သားတို့သည် "အတီတာ မိုက်စ မိုက်ပင်ပျိုးလို့ မိုက်ဆိုးခဲ့တာယခုလည်း မိုက်ဆဲမှန်စွာ၊ ရှေ့ကိုတိုးလို့ ထမ်းပိုးမိုက်ဦးမှာ" ဆိုသကဲ့သို့ မိုက်ဆိုးခဲ့ကြသည်။

(၂) "တူဖာန်" ဟူသည် လူသားအားလုံးကို ဝန်းခြံသက်ရောက်သော ဘေးဒုက္ခတိုင်းကို ဆိုလိုသည်။ ကုရ်အာန် (၇း၁၃၃)တွင်ပါရှိသည့် "တူဖာန်" သည်လည်း ဤအနက်ပင်ဖြစ်သည်။ ၎င်းနောက် "တူဖာန်"ဟူသော ပုဒ်သည် ရေအလွန်များပြားသည့် ရေဘေးကြီးအနက်၌ အသုံးအနှုန်း များပြားကျော်ကြားလာခဲ့၏။ အကြောင်းကား တမန်တော်နူဟ်၏ အမျိုးသားများကြုံခဲ့ရသော ဘေးဒုက္ခသည် ရေဘေးဖြစ်ခြင်းကြောင့် ဖြစ်သည်။ (ရာဃိဗ်)

(၃) **ဖော်ပြချက်။**

စအီဒ် အီဗ်နုဂျုဗိုင်ရ်သခင်ထံမှတဆင့် ဤသို့ကြားသိရ၏။ တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)သည် အစ္စရာအီလီ မျိုးနွယ်ဝင်များအတွက် လွတ်လပ်စွာ နေထိုင်သွားလာခွင့်၊ လွတ်လပ်စွာ ယုံကြည်ကိုးကွယ်ခွင့် ရရှိရန် ဖစ်ရ်အောင်န်ထံ တောင်းဆိုခဲ့၏။ ဖစ်ရ်အောင်န်သည် ထိုတောင်းဆိုချက်ကို ငြင်းပယ်ခဲ့၏။ ထိုအခါ အရှင်မြတ်သည် အလွန်ပြင်းထန်သော မိုးသက်မုန်တိုင်းကို ရွာသွန်းချစေတော်မူ၏။ ဖစ်ရ်အောင်န်သည် ထိုမိုးသက်မုန်တိုင်းကြောင့် လယ်ယာ၊ ခြံ၊ ဉယျာဉ်များ ပျက်စီးသွားမည်ကို စိုးရိမ်ကာ တမန်တော်မူစာ (အလိုင်ဟစ္စလာမ်)အား "အသင်သည် မိမိ၏အရှင်မြတ်၌ ဆုပန်ကြား၍ ဤဘေးဒုက္ခကို ကင်းဝေးစေပါလျှင် ကျွန်ုပ်တို့သည် အစ္စရာအီလီ မျိုးနွယ်ဝင်တို့အား လွတ်လပ်ခွင့်ပေး၍ အသင်နှင့်အတူတကွ ထည့်လိုက်ကြပါမည်" ဟု ပြောဆို မေတ္တာရပ်ခံလေ၏။ တမန်တော်မူစာသည် အလ္လာဟ်အရှင်မြတ်အထံတော်၌ ဆုပန်ကြားရာ မိုးသည် ရပ်စဲသွား၏။ အသီးအနှံများသည်လည်း မပျက်စီးသည့်အပြင် များပြားစွာ ပိုထွက်၏။ ဖစ်ရ်အောင်န်သည် ရဘေးမှ စိတ်အေးသွားသောအခါ မိမိ၏ကတိကို ဖျက်လိုက်၏။

ထို့နောက် အလ္လာဟ်အရှင်မြတ်သည် အသင့်ဖြစ်နေသော လယ်ယာ၊ ခြံ၊ ဉယျာဉ်များတွင် ကျိုင်းကောင်များကို စေလွှတ်တော်မူလိုက်၏။ ဖစ်ရ်အောင်န်သည် အံ့ဖွယ်သရဲ ကျိုင်းကောင်များကို တွေ့မြင်သောအခါ စိုးရိမ်ပူပန်ကာ တမန်တော်မူစာအား "အသင်သည် အကယ်၍ ဤကျိုင်းကောင်များ၏ ဘေးဒုက္ခကို ကင်းဝေးအောင်ပြုလုပ်ပေးပါလျှင် ကျွန်ုပ်သည် အစ္စရာအီလီ မျိုးနွယ်ဝင်တို့အား လွတ်လပ်ခွင့်ပေး၍ အသင်နှင့်အတူ မုချထည့်လိုက်ကြပါမည်" ဟု လေးနက်စွာ ကတိပြု မေတ္တာရပ်ခံပြန်၏။ တမန်တော်မူစာ (အလိုင်ဟစ္စလာမ်)၏ ဆုပန်ကြားချက်ဖြင့် ကျိုင်းကောင်များ၏ဘေးရန်သည် ကင်းရှင်းသွားပြန်သောအခါ ဖစ်ရ်အောင်န်သည် ယခင်နည်းတူပင် ကတိဖျက်ပြန်၏။ ထို့နောက်တဖန် လယ်ယာ၊ ဉယျာဉ်များမှရရှိသော အသီးအနှံများကို အိုးအိမ် တိုက်တာများတွင် သိုလှောင်ကြပြီးသောအခါ အလ္လာဟ်အရှင်မြတ်သည် ထိုသို့ သိုလှောင်ထားသော အသီးအနှံများတွင် ပိုးကျစေတော်မူ၏။ ဖစ်ရ်အောင်န်သည် ဤအခြင်းအရာကို တွေ့မြင်သောအခါ တဖန် တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)ထံတွင် ယခင်အကြိမ်များထက် ပိုမိုလေးနက်စွာ ကတိပြု၍ မေတ္တာရပ်ခံပြန်၏။ တမန်တော်မူစာ၏ဆုပန်ကြားချက်ဖြင့် အခြေအနေ ကောင်းလာပြန်သောအခါ ဖစ်ရ်အောင်န်သည် ယခင်နည်းတူပင် ကတိဖောက်ဖျက်ပြန်လေသည်။

ထို့နောက် အလ္လာဟ်အရှင်မြတ်သည် ဖစ်ရ်အောင်န်၏အမျိုးသားများ၏ စားဖွယ်သောက်ဖွယ်များကို အမြိန့်အရသာ ပျက်စီးစေရန်အတွက် မြောက်မြားစွာသောဖားများကို စေလွှတ်တော်မူလိုက်၏။ ဖားများသည် စားဖွယ်သောက်ဖွယ် အိုးခွက်ပန်းကန်များတွင်လည်းကောင်း၊ နေရာအနှံ့အပြားတွင်လည်းကောင်း၊ ခုန်ပေါက် သွားလာလျက်ရှိ၏။ နေရာတိုင်းတွင် ဖားများကိုသာ တွေ့ရှိနေရ၏။ စကားပြောရန် သို့မဟုတ် တစ်စုံတစ်ရာစားရန် ပါးစပ်ဟလျှင် ဖားများသည် ပါးစပ်တွင်းသို့ ခုန်ဆင်းဝင်ရောက်၏။ ဖားများ၏ဘေးရန်ကြောင့် ဖစ်ရ်အောင်န်၏ အမျိုးသားများသည် စားရေးသောက်ရေးတွင် အကြီးအကျယ် စိတ်ဆင်းရဲလျက်ရှိကြ၏။ ပြီးနောက်တဖန် ရေသောက်သုံးရန် ရေယူပြန်လျှင် ရေသည် သွေးအတိ ဖြစ်လျက်ရှိပြန်၏။

အချုပ်အားဖြင့် ဖစ်ရ်အောင်န်၏ အမျိုးသားများသည် နေထိုင်စားသောက်ရေးများတွင် အကြီးအကျယ် ဒုက္ခဖြစ်လျက်ရှိကြ၏။ ကံဆိုးမိုးမှောင်ဖြစ်လျက်ရှိကြ၏။ သို့တစေလည်း (ခွေးမြီးကောက် ကျည်တောက်စွပ် ဆိုသကဲ့သို့) ဖစ်ရ်အောင်န်၏ အမျိုးသားများသည် မာန်မာနမလျှော့ပဲ မောက်မာမြဲတိုင်း မောက်မာ၍ မိုက်မြဲတိုင်း မိုက်လျက်ပင်ရှိနေခဲ့ကြလေသတည်း။ စိတ်နှလုံးများကား ခဲယဉ်းလှပေတကား။

وَلَمَّا وَقَعَ عَلَيْهِمُ الرِّجْزُ قَالُوا يَٰمُوسَى ادْعُ لَنَا رَبَّكَ بِمَا عَهِدَ عِندَكَ ۖ لَئِن كَشَفْتَ عَنَّا الرِّجْزَ لَنُؤْمِنَنَّ لَكَ وَلَنُرْسِلَنَّ مَعَكَ بَنِي إِسْرَٰءِيلَ ﴿١٣٤﴾

**၁၃၄။** ၎င်းပြင် ၎င်းတို့အပေါ်၌ ပြစ်ဒဏ်များ ကျရောက် လာသောအခါ ထိုသူတို့က "အို-မူစာ၊ အသင်၏ အရှင်မြတ်သည် အသင်နှင့် ပဋိညာဉ် ပြုထားတော်မူသည်နှင့် စပ်လျဉ်း၍ အသင်သည် ကျွန်ုပ်တို့အဖို့ *မိမိအရှင်မြတ်အထံတော်၌ ဆုမွန် ပတ္တနာ ပြု၍ပေးပါလေ။* [၁]

အကယ်၍သာအသင်သည် ကျွန်ုပ်တို့အပေါ်မှ (ဤ)ပြစ်ဒဏ်ကို ဖယ်ရှား၍ ပေးခဲ့ပါလျှင်၊ ကျွန်ုပ်တို့သည် အသင့်အား ယုံကြည်(ကိုးစား)၍ အစ္စရာအီလီ အမျိုးသားတို့ကိုလည်း အသင်နှင့်အတူ ထည့်လိုက်ကြပါမည်ဟု ပြောဆို(လေ့ရှိ)ကြကုန်၏။

فَلَمَّا كَشَفْنَا عَنْهُمُ الرِّجْزَ إِلَىٰ أَجَلٍ هُم بَٰلِغُوهُ إِذَا هُمْ يَنكُثُونَ ﴿١٣٥﴾

**၁၃၅။** တဖန် ငါအရှင်မြတ်သည် ၎င်းတို့အပေါ်မှ အပြစ်ဒဏ်ကို *သတ်မှတ်ထားသည့်အချိန်* [၂] ထိုအချိန် အထိ ၎င်းတို့သည်ရောက်ကြရမည်ဖြစ်၏။ ဖယ်ရှား၍ ပေးတော်မူလိုက်သောအခါ ၎င်းတို့သည် ရုတ်တရက် (ချက်ချင်း) *ကတိဖျက်ကြပြန်လေသည်။* [၃]

---

(၁) "အသင်သည် ကျွန်ုပ်တို့အဖို့ အသင်၏အရှင့်ထံ ထိုအရှင်က အသင်နှင့် ကတိပြုထားတော်မူသည့်အတိုင်း ဆုပန်ကြားပါ" ဟူသော မုဗ္ဗာပါဌ်တော်၏ အလိုကား အသို့ပါနည်း။ ဤတွင် အနက်အမျိုးမျိုး ဖွင့်ထားသည်ကို တွေ့ရှိရပေသည်။

(က) ဆုတောင်းပြည့်ရန်အတွက် ထိုအရှင်မြတ်က အသင့်အား ပြသထားတော်မူသည့်အတိုင်း အသင်ဆုပန်ကြားပါဟူ၏။

(ခ) အသင်သည် "အလ္လာဟ်အရှင်မြတ်၏ နဗီတမာန်တော်" အဖြစ်နှင့် ဆုပန်ကြားပါဟူ၏။ ဤအဖွင့်အရ ကတိတော်ဟူသည် "နုဗုဝါတ်" ကို ဆိုလိုသည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်နှင့်နဗီတမန်တော်များ စပ်ကြားတွင် ကတိတစ်ခုရှိသည်။ ထိုကတိကား အခြားမဟုတ်၊ အလ္လာဟ်အရှင်မြတ်သည် နဗီတမန်တော်များအား "နုဗုဝါတ်"ကို ချီးမြှင့်တော်မူ၏။ နဗီတမန် တော်များသည် ထိုအရှင်မြတ်၏ တရားဒေသနာတော်များကို ပို့ချရာတွင် သက်ဆိုင်ရာ အမျိုးသားများထံသို့ ချို့တဲ့မှုတစ်စုံတစ်ရာမရှိပဲ အပြည့်အဝ အတိအကျ ပို့ချကြရမည်ဟူ၍ဖြစ်သည်။ ➢➢

فَانْتَقَمْنَا مِنْهُمْ فَاَغْرَقْنٰهُمْ فِي الْيَمِّ بِاَنَّهُمْ كَذَّبُوْا بِاٰيٰتِنَا وَكَانُوْا عَنْهَا غٰفِلِيْنَ ﴿١٣٦﴾

၁၃၆။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ၎င်းတို့အား (အပြည့်အဝ) *တုံ့ပြန်တော်မူခဲ့လေသည်။* [၁] သို့ပါ၍ ငါအရှင်မြတ်သည် ၎င်းတို့အား ငါအရှင်မြတ်၏ မုဂ္ဇိဇာတော်များကို ငြင်းပယ်ခဲ့ကြသည့်အတွက်လည်းကောင်း၊ ထိုသက်သေလက္ခဏာတော်များကို (လုံး၀) သတိမမူ လျစ်လျူရှု၍ နေခဲ့ကြသည့်အတွက်လည်းကောင်း၊ သမုဒ္ဒရာပင်လယ်၌ နစ်မြှုပ်တော်မူခဲ့လေသတည်း။

---

➤➤ (ဂ) ကတိတော်ဟူသည် နဗီတမန်တော်များမှတဆင့် သက်ဆိုင်ရာ အမျိုးသားများနှင့် ပြုလုပ်ထားတော်မူသော ကတိတော်ကို ဆိုလိုသည်။ ထိုကတိတော်ကား အသင်တို့သည် "ကုဖ်ရ်" သွေဖည်ခြင်း၊ "တက္ကဇီဗ်" မှသားဟု ပြောဆိုခြင်းများကို စွန့်လွှတ်ကြလျှင် ငါအရှင်မြတ်သည် မိမိ၏အပြစ်ဒဏ်တော်များကို ပြန်လည်ရုပ်သိမ်းတော်မူမည်ဟူသော ကတိတော်ပင်ဖြစ်သည်။

(၂) "သတ်မှတ်ထားသည့် အချိန်အထိ" ဟူသည် သေရမည့် အချိန်၊ ရေနစ်ရမည့် အချိန်ကို ဆိုလိုသည်။ ဘေးဒဏ်တစ်ခု သက်ရောက်ပြီးနောက် ဒုတိယ ဘေးဒဏ် မသက်ရောက်သေးမီ အချိန်ပိုင်း ကိုလည်း ဆိုနိုင်သည်။

(၃) ဖစ်ရ်အောင်န်၏ အမျိုးသားများသည် ပြစ်ဒဏ်တော်မှ ယာယီအားဖြင့် ချမ်းသာခွင့်ရရှိသည်နှင့် တပြိုင်တည်း ကတိဖျက်ကာ သွေဖည်ငြင်းဆန်၍ နေကြပြန်၏။

(၁) "အင်န်တိကာမ်" ဟူသည် အဘိဓာန်အရ ပြစ်ဒဏ်ဖြင့် ကျေးဇူးတော်ကို ပြန်လည်ရုပ်သိမ်းခြင်းကိုဆိုသည်။ (ကဗီရ်)

အလ္လာဟ် အရှင်မြတ်သည် ဖစ်ရ်အောင်န်နှင့် တကွ ဖစ်ရ်အောင်န်၏ အမျိုးသား တို့အား တရားဓမ္မ ဒေသနာတော်များ ဟောကြားတော် မူခဲ့၏။ တန်ခိုး ပြာဋိဟာ အဖြာဖြာကိုလည်း ပြတော်မူခဲ့၏။ ဘေးဒဏ် အတန်တန်လည်း သင့်စေတော်မူခဲ့၏။ သတိအဖန်ဖန်လည်း ပေးတော်မူခဲ့၏။ အကြိမ်ကြိမ်လည်း လျစ်လျူပြုတော် မူခဲ့၏။ ချော့၍တဖုံ၊ ခြောက်၍တသွယ် နည်းပရိယာယ် အသွယ်သွယ်တို့ဖြင့်လည်း တရားချတော်မူ၏။

သို့ရာတွင် ၎င်းတို့သည် ဗူးနားပင်း ရေသွင်းဘိအလား တရားမရကြသည့်အပြင် ဆိုးမြဲတိုင်းဆိုး၊ မိုက်မြဲတိုင်း မိုက်လျက်ပင်ရှိခဲ့ကြ၏။ မနာလိုမုန်းထားသောစိတ်ဖြင့် ဇွတ်မှိတ်၍ တရားဒေသနာတော်များကို ငြင်းဆိုခဲ့ကြ၏။ လျစ်လျူပြုထားခဲ့ကြ၏။ တရားဒေသနာတော်များကို နာခံပါမည်ဟု ဝန်ခံပြောဆိုပြီးမှပင်လျှင် အကြိမ်ကြိမ် ကတိဖျက်ခဲ့ကြ၏။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား အဘယ်နည်းနှင့်မျှ ပြုပြင်၍ မရသည့်အဆုံးတွင် ပင်လယ်တွင်နစ်မြှုပ်၍ အဆုံးစီရင်တော်မူလိုက်လေသည်။ ဤကား သူမိုက်တို့၏ ဘဝလမ်းအချုပ်နိဂုံးတည်း။

وَأَوْرَثْنَا الْقَوْمَ الَّذِينَ كَانُوا
يُسْتَضْعَفُونَ مَشَارِقَ
الْأَرْضِ وَمَغَارِبَهَا الَّتِي
بَارَكْنَا فِيهَا ۖ وَتَمَّتْ كَلِمَتُ
رَبِّكَ الْحُسْنَىٰ عَلَىٰ بَنِي
إِسْرَائِيلَ بِمَا صَبَرُوا ۖ
وَدَمَّرْنَا مَا كَانَ يَصْنَعُ
فِرْعَوْنُ وَقَوْمُهُ وَمَا
كَانُوا يَعْرِشُونَ ﴿١٣٧﴾

**၁၃၇။** ၎င်းနောက် ငါအရှင်မြတ်သည် အားအင်ချည့်နဲ့သည်ဟု ထင်မြင်ယူဆခြင်း ခံခဲ့ကြရသော (အစ္စရာအီလီ) အမျိုးသားတို့အား အကြင်နယ်မြေဒေသ၏ အရှေ့ပိုင်းဒေသများကို လည်းကောင်း၊ အနောက်ပိုင်း ဒေသများကိုလည်းကောင်း၊ စိုးပိုင်စေတော်မူခဲ့လေသည်။ ထိုနယ်မြေဒေသများတွင် ငါအရှင်မြတ်သည် မင်္ဂလာနှင့် ပြည့်စုံစေတော်မူခဲ့၏။ ၎င်းပြင် အစ္စရာအီလီအမျိုးသားတို့နှင့်ပတ်သက်၍ အသင့်အား မွေးမြူတော်မူသောအရှင်၏ အလွန်မွန်မြတ်လှသောကတိတော်သည်လည်း ၎င်းတို့သည်းခံခဲ့ကြသည့်အတွက်ကြောင့် ပြီးမြောက် အတည်ဖြစ်သွားချေပြီ။

၎င်းပြင် ငါအရှင်မြတ်သည် ဖစ်ရ်အောင်န်နှင့် ၎င်း၏ အမျိုးသားများ ပြုလုပ်ထားခဲ့ကြသော အရာများကိုလည်းကောင်း၊ မြင့်မားစွာ တည်ဆောက်ထားခဲ့ကြသော အဆောက်အအုံများကိုလည်းကောင်း၊ လုံး၀ ဖျက်ဆီးတော်မူခဲ့လေသည်။

وَجَاوَزْنَا بِبَنِي إِسْرَائِيلَ
الْبَحْرَ فَأَتَوْا عَلَىٰ قَوْمٍ يَعْكُفُونَ
عَلَىٰ أَصْنَامٍ لَهُمْ ۚ قَالُوا
يَا مُوسَى اجْعَل لَّنَا إِلَٰهًا كَمَا

**၁၃၈။** ထိုမှတပါး ငါအရှင်မြတ်သည် အစ္စရာအီလီအမျိုးသားတို့အား သမုဒ္ဒရာပင်လယ်ကို ကူးကျော်ဖြတ်သန်း၍ တဘက်ကမ်းသို့ ရောက်စေတော်မူခဲ့လေသည်။ ထို့နောက် ၎င်းတို့သည် အကြင်လူမျိုးတို့ထံ ရောက်ရှိလာကြကုန်သည်။ ထိုလူမျိုးတို့သည် မိမိတို့၏ရုပ်ပွားဆင်းတုများကို စွဲလမ်းလျက် ရှိကြလေသည်။ မိမိတို့၏ရုပ်ပွားဆင်းတုများထံ ချဉ်းကပ် *(ကိုးကွယ်)လျက်* ရှိကြလေသည်။[၁]

---

⓵ အရာတစ်ခုအပေါ်တွင် "အုကူဖ်" ပြုခြင်းဟူသည် ထိုအရာကို ရိုသေမြတ်နိုးသောအားဖြင့် စွဲမြဲ ချဉ်းကပ်ခြင်းကို ဆိုသည်။ ယင်းပုဒ်မှပင် မတ်စ်ဂျစ်ဒ် ဗလီကျောင်းများတွင် အုကူဖ် "ဣအ်တိကာဖ်" ထိုင်ခြင်း ➢➢

لَهُمْ اٰلِهَةٌ ؕ قَالَ اِنَّكُمْ قَوْمٌ تَجْهَلُوْنَ ﴿١٣٨﴾

(ထိုအခါ) ၎င်း (အစ္စရာအီလီ အမျိုးသား) တို့က အို-(နဗီတမန်တော်)မူစာ၊ အသင်သည် ကျွန်ုပ်တို့အဖို့လည်း ၎င်းတို့၌ရှိကုန်သော ကိုးကွယ်ရာများကဲ့သို့ ကိုးကွယ်ရာ တဆူကို ပြုလုပ်၍ ပေးပါလော့ဟု ပြောဆိုကြလေသည်။

(ထိုအခါ နဗီတမန်တော်)မူစာက (၎င်းတို့အား) "အချင်းတို့"၊ အသင်တို့သည် ဧကန်စင်စစ် (အလွန်တရာမှ) အသိတရား ကင်းမဲ့ကြကုန်သော သူမိုက်များပင် ဖြစ်ကြကုန်သည်ဟု ပြောဆိုခဲ့လေ၏။

اِنَّ هٰٓؤُلَآءِ مُتَبَّرٌ مَّا هُمْ فِيْهِ وَبٰطِلٌ مَّا كَانُوْا يَعْمَلُوْنَ ﴿١٣٩﴾

၁၃၉။ဧကန်မလွဲ ၎င်းတို့ လုံးပန်းလျက်ရှိကြသော အမှုကိစ္စများသည် ဖျက်ဆီးခြင်းခံရပေမည်။ ထို့ပြင် ၎င်းတို့ပြုလျက်ရှိကြသော အမှုကိစ္စများသည်(လုံး၀) အချည်းနှီး (အခြေအမြစ် မရှိသော) ကိစ္စများသာ ဖြစ်ကုန်၏။

قَالَ اَغَيْرَ اللّٰهِ اَبْغِيْكُمْ اِلٰهًا وَّهُوَ فَضَّلَكُمْ عَلَى الْعٰلَمِيْنَ ﴿١٤٠﴾

၁၄၀။ (နဗီတမန်တော်)မူစာက(ဆက်လက်၍) ပြောကြားခဲ့သည်မှာ "အချင်းတို့ ငါသည် အသင်တို့အဖို့ အလ္လာဟ်အရှင်မြတ်မှတပါး အခြားကိုးကွယ်ရာ တပါးကို ရှာဖွေ၍ ပေးရပါမည်လော၊ အမှန်စင်စစ် သော်ကား ထို(အလ္လာဟ်)အရှင်မြတ်သည် (အချို့သောကျေးဇူးတော်များတွင်) အသင်တို့အား စကြ၀ဠာ ခပ်သိမ်းတို့ထက် ထွတ်မြတ်စေတော်မူခဲ့ပြီး ဖြစ်ချေသည် ဟု ပြောကြားခဲ့လေသည်။ [၁]

---

➢➢ ဟူသော အသုံးအနှုန်း ဖြစ်ပေါ်လာခဲ့သည်။ "ဣအ်တိကာဖ်" ဟူသည် အလ္လာဟ်အရှင်မြတ်အား ခ၀ပ်ကိုးကွယ်ရန်အတွက် ဗလီ၀တ်ကျောင်းများတွင် စွဲမြဲစွာနေထိုင်ခြင်းကိုဆိုသည်။ (အလ်မနာ)

(၁) အလ္လာဟ်အရှင်မြတ်သည် အစ္စရာအီလီ လူမျိုးတို့အား "တောင်ဟီဒ်" နှင့်ပတ်သက်၍ သက်သေလက္ခဏာတော်များကိုလည်း ပြသတော်မူပြီးဖြစ်၏။ ထို့ပြင်တဝ ထိုအရှင်မြတ်သည် ၎င်းတို့အား အချို့ကျေးဇူးတော်များတွင် စကြာ၀ဠာအ၀ှန်းထက်ပင် ဂုဏ်ထူး၀ိသေသများကို ထူးကဲစွာ ချီးမြှင့်တော်မူခဲ့သော ➢➢

وَإِذْ أَنجَيْنَٰكُم مِّنْ ءَالِ فِرْعَوْنَ يَسُومُونَكُمْ سُوٓءَ ٱلْعَذَابِ ۖ يُقَتِّلُونَ أَبْنَآءَكُمْ وَيَسْتَحْيُونَ نِسَآءَكُمْ ۚ وَفِى ذَٰلِكُم بَلَآءٌ مِّن رَّبِّكُمْ عَظِيمٌ ﴿١٤١﴾

**၁၄၁။** ထိုမှတပါး (အသင်တို့သည် ပြန်လည်၍ သတိရကြလေကုန်)၊ အကြင်အခါဝယ် ငါအရှင်မြတ်သည် အသင်တို့အား ဖစ်ရ်အောင်န်၏အမျိုးသားတို့ (၏ ဘေးအန္တရာယ်များ)မှ လွတ်မြောက်စေတော်မူခဲ့လေသည်။ ၎င်းတို့သည် အသင်တို့အပေါ်၌ အလွန်ဆိုးရွားလှသော ဘေးဒုက္ခများကို သက်ရောက်စေကြလေသည်။ ၎င်းတို့သည် အသင်တို့၏ သားယောကျ်ားကလေးများကို (ရက်စက်ကြမ်းကြုတ်စွာ) သတ်ဖြတ်ကြလေသည်။

သို့ရာတွင် အသင်တို့၏ အမျိုးသမီးများကိုမူကား (၎င်းတို့၏ကျွန်မများအဖြစ် ခိုင်းစေနိုင်ရန် သတ်ဖြတ်ခြင်းမပြုပဲ) အသက်ချမ်းသာ ပေးကြလေသည်။ စင်စစ်သော်ကား ဤသည် အသင်တို့အဖို့ အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် အထံတော်မှ ကြီးကျယ်လှစွာသော စမ်းသပ်မှုတစ်ရပ်ပင် ရှိချေသတည်း။

---

➤➤ မဟာကျေးဇူးတော်ရှင်လည်း ဖြစ်တော်မူ၏။ (ဤကဲ့သို့ တောင်ဟီဒ်နှင့်ပတ်သက်၍ သက်သေလက္ခဏာတော်များ အထင်အရှား ပြသတော်မူသောအရှင် မိမိတို့အား ကမ္ဘာအဝှန်းထက် ထူးကဲစွာ ဂုဏ်ထူးဝိသေသ ချီးမြှင့်တော်မူသော မဟာကျေးဇူးတော်ရှင် အလ္လာဟ်အရှင်မြတ်သခင်အား ဖဲကြဉ်၍ အခြားကိုးကွယ်ရာကို ဆည်းကပ်ကိုးကွယ်ခြင်းသည် အသို့လျှင် ပြုထိုက်အံ့နည်း။)

ဤသို့ပြုမူခြင်းသည် မိမိတို့၏ ကျေးဇူးတော်ရှင်အား ကျေးဇူးမဆပ်သည့်အပြင် ကျေးဇူးကန်းရာ၊ ပုန်ကန်ရာရောက်ပေသည်။ ထို့ပြင်တဝ ကမ္ဘာအဝှန်းထက်ပင် ဂုဏ်ထူးဝိသေသထူးကဲစွာ ချီးမြှင့်ခြင်းခံရသော သူများအဖို့ မိမိတို့ကိုယ်တိုင် မိမိတို့လက်များဖြင့် ပြုလုပ်သော အရာဝတ္ထု၏ရှေ့မှောက်တွင် ဦးချခြင်းကား ရှက်ဖွယ်ပင် ကောင်းလှတော့သည်။ ကြည့်-ထာနဝီ၊

"ရှစ်ရ်က်" သည် မည်သည့်လူမျိုးအတွက် မည်သည့်အခါ၌မျှ မပြုပိုင်ချေ။ အထူးသဖြင့် တောင်ဟီဒ်တရားတော်၏ အလံကိုင်များအဖြစ် အစကနဦးကပင် ချီးမြှင့်ခြင်းခံခဲ့ရသော အစ္စရာအီလီ လူမျိုးများအဖို့မှာကား အသို့လျှင်ပြုအပ်ပေမည်နည်း။ ကြည့်-မာဂျိဒီ။

၁၄၂။ ထိုမှတပါး ငါ အရှင်မြတ်သည် (နဗီ တမန်တော်)မူစာအား ညဥ့်ပေါင်းသုံးဆယ် ချိန်းချက်တော်မူခဲ့လေသည်။ ထို့နောက် ငါအရှင်မြတ်သည် ယင်းညဥ့်ပေါင်းသုံးဆယ်ကို ဆယ်ညဥ့်ဖြင့် (ထပ်လောင်း၍) ဖြည့်စွက်တော်မူခဲ့လေသည်။ သို့ဖြစ်ပေရာ ထို(နဗီတမန်တော်)မူစာ၏အရှင် သတ်မှတ်တော်မူသောအချိန်သည် ညဥ့်ပေါင်းလေးဆယ် ပြည့်သွားခဲ့လေ၏။

ငင်းပြင် (နဗီတမန်တော်)မူစာသည် မိမိနောင်တော် (နဗီတမန်တော်)*ဟာရူန်အား (ဤသို့) ပြောဆို မှာကြားခဲ့လေသည်။* [၁] (အို-နောင်တော်) အသင်သည် ကျွန်ုပ်၏အမျိုးသားတို့တွင် ကျွန်ုပ်အား ကိုယ်စားပြု၍ နေရစ်ခဲ့ပါ။ ထို့ပြင် အသင်သည် (ငင်းတို့အား) ပြုပြင်၍ပေးပါ။ သို့ရာတွင် အသင်သည် အကျိုးပျက်စီးအောင် ပြုလုပ်သူတို့၏ လမ်းစဉ်ကို မလိုက်ပါလေနှင့်။

وَوٰعَدْنَا مُوْسٰى ثَلٰثِيْنَ لَيْلَةً وَّاَتْمَمْنٰهَا بِعَشْرٍ فَتَمَّ مِيْقَاتُ رَبِّهٖٓ اَرْبَعِيْنَ لَيْلَةً ۚ وَقَالَ مُوْسٰى لِاَخِيْهِ هٰرُوْنَ اخْلُفْنِىْ فِىْ قَوْمِىْ وَاَصْلِحْ وَلَا تَتَّبِعْ سَبِيْلَ الْمُفْسِدِيْنَ ﴿١٤٢﴾

၁၄၃။ ငင်းပြင် (နဗီတမန်တော်)မူစာသည် ငါအရှင်မြတ် သတ်မှတ်တော်မူသောအချိန်၌ ရောက်ရှိလာခဲ့၍ ထို(နဗီတမန်တော်)မူစာ၏အရှင်မြတ်သည် ထို(နဗီတမန်တော်)မူစာနှင့် စကားပြောဆိုတော်မူသောအခါထို(နဗီတမန်တော်)မူစာက "အို ကျွန်တော်မျိုး၏အရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား (မိမိကို) ပြသတော်မူပါ။ ကျွန်တော်မျိုးသည် *အရှင်မြတ်အား ဖူးမျှော်ပါရစေ*" [၂] ဟုလျှောက်ထားပန်ကြားလေသည်။

وَلَمَّا جَآءَ مُوْسٰى لِمِيْقَاتِنَا وَكَلَّمَهٗ رَبُّهٗ ۙ قَالَ رَبِّ اَرِنِىْٓ اَنْظُرْ اِلَيْكَ ۗ قَالَ لَنْ تَرٰىنِىْ وَلٰكِنِ انْظُرْ اِلَى الْجَبَلِ فَاِنِ

(၁) အလ္လာဟ်အရှင်မြတ် ချိန်းချက်ထားတော်မူသော အချိန်ပိုင်းပြည့်စုံ၍ တူရ်တောင်ထိပ်သို့ (အလ္လာဟ်အရှင်မြတ်ထံ)သွားရန် စိတ်ပိုင်းဖြတ်လိုက်သောအခါ တမန်တော်မူစာသည် မိမိ၏နောင်တော် တမန်တော်ဟာရူန် (အလိုင်ဟစ္စလာမ်)အား မိမိ၏ကိုယ်စားလှယ်အဖြစ် မိမိ၏အမျိုးသားများအပေါ်တွင် ခန့်အပ်ထားခဲ့၏။ ➢➢

اسْتَقَرَّ مَكَانَهُ فَسَوْفَ تَرَىٰنِي ۚ فَلَمَّا تَجَلَّىٰ رَبُّهُ لِلْجَبَلِ جَعَلَهُ دَكًّا وَخَرَّ مُوسَىٰ صَعِقًا ۚ فَلَمَّآ

ထိုအခါ အရှင်မြတ်က "(အို-မူစာ) အသင်သည် *(ဤလောကတွင်) ငါအရှင်မြတ်အား အလျင်းဖူးမြင်နိုင်မည် မဟုတ်ပေ။* ၁ သို့ရာတွင် အသင်သည် (ဤ)တောင်ကို ကြည့်နေပါလေ။ အကယ်၍ ထိုတောင်သည် မိမိနေရာတွင် တည်ငြိမ်စွာရှိနေခဲ့ပါမူ အသင်သည်လည်း ငါအရှင်မြတ်အား အမှန်ပင် ဖူးမျှော်နိုင်ပေမည်"ဟု မိန့်ကြားတော်မူလေသည်။ ၂

---

➤➤ မိမိ၏အမျိုးသားများအား ပြုပြင်ပေးရန်နှင့် ဖျက်ဆီးသူတို့၏လမ်းစဉ်ကို မလိုက်နာမိရန်လည်း မှာကြားထားခဲ့၏။ တမန်တော်ဟာရူန်(အလိုင်ဟစ္စလာမ်)သည်လည်း တာဝန်ရှိသော တမန်တော်ကြီးတပါးပင် ဖြစ်၏။ ယင်းကဲ့သို့ မှာကြားနေရန်ပင် မလိုပေ။ သို့ပါလျက် ယင်းကဲ့သို့ တမန်တော်မူစာက အမှတ်တရ မှာကြားခဲ့ခြင်းမှာ အမိန့်ပေးခြင်းမဟုတ်။ သတိပေးခြင်းမျိုးသာ ဖြစ်ပေသည်။ အီဗ်နုကဆီရ်၊အ-၂။စ-၂၄၃။

② ချိန်းချက် ထားတော်မူသော ရက်ပေါင်း (၄၀)စေ့သွားသောအခါ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာနှင့် အလွန်တရာမှ နက်နဲထူးခြားသော နည်းမျိုးဖြင့် စကားပြောကြားတော်မူ၏။ ယင်းကဲ့သို့ တမန်တော်မူစာသည် အလ္လာဟ်အရှင်မြတ်နှင့် မိမိစပ်ကြားတွင် အဆက်အသွယ် တစ်စုံတစ်ရာမရှိပဲ တိုက်ရိုက် ထိုအရှင်မြတ်၏ စကားတော်များကို နားသောတဆင်ရသဖြင့် အတိုင်းမသိ ပီတိသောမနဿဖြစ်၏။ အလွန် ပြင်းပြသော ဆန္ဒဖြင့် ထို အရှင်မြတ်အား ဖူးမြင်လို၏။ သို့ ဖူးမြင်လိုသည့် အလျောက် တမန်တော် မူစာသည် နောက်ဆုံးတွင် မိမိ၏စိတ်ကို မချုပ်တည်းနိုင်တော့ပဲ "အို-ကျွန်တော်မျိုး၏အရှင်၊ အရှင်သည် ကျွန်တော်မျိုးအား ထင်ရှားပြတော်မူပါ။ ကျွန်တော်မျိုးသည် အရှင်မြတ်အား ဖူးမြင်ပါရစေ" ဟု လျှောက်ထား ပန်ကြားလေတော့သတည်း။

① ဤပစ္စက္ခ မျက်မှောက်ဘဝတွင် "ဖာနီ" မမြဲသော သင်္ခါရဖြစ်သောသတ္တဝါများနှင့် ၎င်းတို့၏စွမ်းအား သတ္တိများသည် အစအဆုံးမရှိသော အမြဲထာဝရ တည်ရှိတော်မူသော တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တတို့နှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်အား ဖူးမြင်နိုင်စွမ်း မရှိကြပေ၊ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် ဤပစ္စက္ခ မျက်မှောက်ဘဝတွင် မည်သူတစ်ဦးတစ်ယောက်မှ မသေမီအလျင် အလ္လာဟ်အရှင်မြတ်အား မဖူးမြင်နိုင်ကြောင်း သိရှိရပေသည်။

② အလ္လာဟ်အရှင်မြတ်က တမန်တော်မူစာအား "အသင်သည် (ဤပစ္စက္ခဘဝတွင်) ငါအရှင်မြတ်အား အလျင်း ဖူးမြင်နိုင်မည်မဟုတ်"ဟု မိန့်ကြားတော်မူပြီးသည့်နောက် ဆက်လက်၍ မိန့်ကြားတော်မူသည်မှာ အသင်သည် ဤတောင်ကို ကြည့်နေပါလေ။ ငါအရှင်မြတ်သည် ဤတောင်ပေါ်သို့ မိမိ၏ရောင်ခြည်တော်များ အနက် အနည်းငယ်မျှကိုပင် လွှတ်တော်မူမည်။ အကယ်၍ တောင်ကြီးကဲ့သို့ မာကျော၊ ခိုင်ခံ့သောအရာသည် ငါ၏ရောင်ခြည်တော်၏ဒဏ်ကို ခံနိုင်ခဲ့ပါလျှင် အသင့်အားလည်း ခံနိုင်အောင် ဖန်တီးပေးတော်မူမည်။ သို့မဟုတ်ပါမူ တောင်ကြီးကဲ့သို့ ကိုယ်ခန္ဓာအစိုင်အခဲ ကြီးမားခိုင်ခံ့သော အရာသည်ပင်လျှင် ငါ၏ဘုန်းရောင်ခြည်တော်ဒဏ် မခံနိုင်ပါလျှင် သေးငယ်လှသော ကိုယ်ခန္ဓာရှိသည့် လူသားတစ်ဦးနှင့်၎င်း၏ မံသစက္ခုများသည် အသို့လျှင် ခံနိုင်အံ့နည်း။



اَفَاقَ قَالَ سُبْحٰنَكَ تُبْتُ اِلَيْكَ وَاَنَا

ထို့နောက် ထို(နဗီတမန်တော်) မူစာ၏ အရှင်သည် တောင်ပေါ်သို့ *(မိမိ) ဘုန်းတော်ကို ထင်ရှားစေတော်မူလိုက်သည့်အခါ* [၁] ထိုဘုန်းတော်သည် ယင်းတောင်ကို အစိတ်စိတ် ဖြစ်ခဲ့လေသည်။ ၎င်းပြင် (နဗီတမန်တော်) မူစာသည်လည်း သတိလစ်၍ လဲကျသွားလေသည်။

တဖန် ထို(နဗီတမန်တော်) မူစာသည် သတိပြန်လည်၍ ရရှိလာသောအခါ (ဤသို့) လျှောက်ထားလေသည်။ (အိုး-အရှင်မြတ်) အရှင်မြတ်သည် (ဤလူ့လောကတွင် မံသစက္ခုဖြင့် ဖူးမြင်ရတော်မူခြင်းမှ)

➤➤ လူသည် နာမ်၊ စိတ်ဓာတ်၊ ဝိဉာဉ်အားဖြင့် မိုး၊ မြေ၊ နေ၊ လနှင့် တောင်ကြီးများထက်ပင်သာ၏။ ထို့အတွက်ကြောင့်လည်း တမန်တော်မူစာနှင့် (အခြားတမန်တော်များ) ထမ်းဆောင်နိုင်ကြသည့် "ဝဟီ" မုကျွပါဋ္ဌတော်များ၊ ထိုမျှမက လူသားတို့ ထမ်းဆောင်နိုင်သည့် အပ်နှံထားသော တာဝန်ကြီးကို ထိုထိုသော တောင်ကြီးများနှင့် အခြားခြားသော ကြီးမားလှသောအရာများသည် ထမ်းဆောင်ရန် မစွမ်းနိုင်ခဲ့ကြပေ။ ယင်းကဲ့သို့ မထမ်းဆောင်နိုင်ခဲ့ကြသည့်အကြောင်းကို ကုရ်အာန်ကျမ်းမြတ် (၃၃:၇၂။ ၅၉:၂၁) တွင် မိန့်ဆိုထားတော်မူသည်။ သို့တစေလည်း လူသည် ကိုယ်ခန္ဓာနှင့် ပတ်သက်သောအရာ၊ မံသစက္ခုနှင့်ပတ်သက်သော အရာများတွင် အခြားကြီးမားလှသော အရာများနှင့်စာလျှင် အလွန်တရာမှုပင် သေးငယ်လှပေသည်။ ဤအကြောင်းကိုလည်း ကုရ်အာန်ကျမ်းမြတ် (၄၀:၅၇၊ ၄:၂၈)တွင် မိန့်ဆိုထားတော်မူသည်။ ဤမုကျွပါဋ္ဌတော်တွင်လည်း တမန်တော်မူစာအား ကိုယ်ခန္ဓာအားဖြင့် လူသားတို့၏ အားအင် သေးငယ်မှုကိုပင် ရည်ညွှန်း မိန့်ဆိုထားတော် မူခြင်းဖြစ်သည်။

၁ အလ္လာဟ်အရှင်မြတ်၏"တဂျလ္လိယာတ်" ဘုန်းတော်ထင်ရှားပြမှုများ၊ (ရောင်ခြည်တော်လွှတ်မှုများ) သည် အမျိုးမျိုးရှိသည်။ ဤသည် အလ္လာဟ်အရှင်မြတ် စေတနာဖြင့် ပြုလုပ်တော်မူသောအမှု ဖြစ်သည်။ ထိုအရှင်မြတ်သည် မိမိအလိုတော်ရှိသလို မည်သည့်အရာအပေါ်၌မဆို ဘုန်းတော်ထင်ရှားပြတော်မူသည်။

အလ္လာဟ် အရှင်မြတ်သည် တောင်ပေါ်တွင် မိမိ၏ "တဂျလ္လီ" ဘုန်းတော် အထင်အရှား ပြတော် မူလိုက်သည့်အခါ ထိုတောင်သည် တမဟုတ်ခြင်း အပိုင်းပိုင်းအစစ ကြေမွ၍သွားသည်။ ထိုတောင်၏ အနီးတွင်ရှိနေသော တမန်တော်မူစာသည်လည်း အလ္လာဟ် အရှင်မြတ်၏ဘုန်းတော် ထင်ရှား ပြတော် မူလိုက်သည့် အတွက် ထိုတောင်၏ ကြောက်မက်ဖွယ် ကောင်းလှသောအဖြစ်ကို ရှုမြင်၍ သတိလစ်ကာ လဲကျသွားခဲ့၏။ တနည်း။ ။ ဤသို့ နားလည်ကြပါကုန်။ မိုးကြိုး ပစ်သည့်အခါ မိုးကြိုး စက်ကွင်းမိသော အရာများသည် တမဟုတ်ချင်း မည်းနက်၍သွား၏။ ထို ပတ်ဝန်းကျင်၌ရှိသော သူများသည်လည်း များသောအားဖြင့် နည်းများမဆို ဒုက္ခ ဖြစ်ကြရသည်။ ဤကား နှိုင်းယှဉ်ခြင်း မဟုတ်။ နားလည် လွယ်အောင် ရေးသား ဖော်ပြခြင်းသာ ဖြစ်သည်။

أَوَّلُ الْمُؤْمِنِيْنَ ﴿١٤٣﴾

သန့်ရှင်း စင်ကြယ်တော်မူပါ၏။ ကျွန်တော်မျိုးသည် အရှင်မြတ် အထံတော်၌ (ယခုကဲ့သို့ လျှောက်ထား မိသောကြောင့်) ဝန်ချ တောင်းပန်ပါ၏။ ၎င်းပြင် ကျွန်တော်မျိုးသည် (အရှင်မြတ်အား ဤလောကတွင် မည်သူမျှ မမြင်နိုင်ကြောင်း) ပထမဦးဆုံး ယုံကြည် သူဖြစ်ပါသည်။ (တနည်း) ၎င်းပြင် ကျွန်တော်မျိုး သည် "အသင်သည် ငါ အရှင်မြတ်အား (ဤပစ္စုပ္ပန် ဘဝတွင်) အလျှင်း ဖူးမျှော်နိုင်မည် မဟုတ်" ဟူသော မုက္ခပါဠ်တော်ကို ပထမဦးဆုံး ယုံကြည်သူ ဖြစ် ပါသည်။ [၁]

---

(၁) ဤမုက္ခပါဠ်တော်၏ အလိုသဘောမှာ ဤသို့တည်း။ ကိုယ်တော်အရှင်မြတ်သည် အဖန်ဆင်းခံ တစုံတရာနှင့် ဆင်တူရိုးမှားဖြစ်ခြင်းမှ လုံး၀ သန့်ရှင်းစင်ကြယ်တော်မူပါသည်။ ဤအနိစ္စ၊ သင်္ခါရ မမြဲသောမျက်လုံးများတွင် ကိုယ်တော်အရှင်မြတ်၏ ဘုန်းတော်ထင်ရှားပြမှုများ၊ ရောင်ခြည်တော်များကို ဖူးမြင်နိုင်စွမ်း အလျဉ်းမရှိပါ။ ကိုယ်တော်အရှင်မြတ်၏ သန့်ရှင်းစင်ကြယ်မှု၊ ကြီးကဲမြင့်မြတ်မှုတို့ကို ထောက်ရှုဆင်ခြင်ပါက ကိုယ်တော် အရှင်မြတ်၏ ခွင့်ပြုချက်မရှိပဲလျက် တစုံတရာ လျှောက်ထားပန်ကြားခြင်း အလျဉ်းမပြုအပ်ပါ။ ကျွန်တော်မျိုးသည် စိတ်စေတနာ သဒ္ဓါတရား လွန်စွာထက်သန်ကာ ကိုယ်တော်အရှင်မြတ်၏ အခွင့်မရှိပဲလျက် မလျှောက်ထားအပ် သည်ကို လျှောက်ထားမိသည့်အတွက် ဝန်ချတောင်းပန် အသနားခံပါသည်။ ကျွန်တော်မျိုးသည် အားလုံးသူတို့ထက် အရှင်မြတ်၏ဘုန်းသမ္ဘာကို ဦးစွာပထမ ယုံကြည်သူဖြစ်ပါသည်။ ထို့ပြင်တ၀ ဤပစ္စက္ခ မျက်မှောက်ဘဝတွင် ဤမံသစက္ခုများဖြင့် ကိုယ်တော်အရှင်မြတ်အား အလျှင်း မဖူးမြင်နိုင်ကြောင်းကို ဦးစွာပထမ ကိုယ်တွေ့မျက်မြင် သိရှိသူ တဦးလည်းဖြစ်ပါသည် ဟူလို။

**မှတ်ချက်**

"တောင်ဗဟ်" ဝန်ချတောင်းပန်မှုသည် အမြဲတစေ အပြစ်ရှိမှပင် ပြုရသည်မဟုတ်။ မလျော်ကန် မသင့်မြတ်သော ပန်ကြားချက်ပြုမိလျှင်လည်း ဝန်ချတောင်းပန်ရသည်။ ဤမုက္ခပါဠ်တော်တွင် ဤသဘောပင် ဖြစ်သည်။

ဤမုက္ခပါဠ်တော်တွင်ပါရှိသော ဝန်ချတောင်းပန်မှုသည် အပြစ်ကြောင့်မဟုတ်ပေ။ဤတွင် မွတ်စ်လင်မ် အားလုံး အဆိုညီပေသည်။ (ကုရ်တုဗီ)

"ကျွန်တော်မျိုးသည် ဦးစွာပထမ အီမာန်ယုံကြည်သူဖြစ်ပါသည်" ၏ အလိုသဘောမှာ ကိုယ်တော် အရှင်မြတ်အား ကိုယ်တော်အရှင်မြတ်၏ အဖန်ဆင်းခံများအနက် မည်သူတဦးတယောက်မျှ ကိယာမတ်နေ့တိုင် မဖူးမြင်နိုင်သည်ကို ကျွန်တော်မျိုးသည် ဦးစွာပထမ ယုံကြည်သူဖြစ်ပါသည် ဟူ၏။

(အီဗ်နုကျရိရ်) အ ၉။စ-၃၉

قَالَ يٰمُوْسٰٓى اِنِّىْ اصْطَفَيْتُكَ
عَلَى النَّاسِ بِرِسٰلٰتِىْ
وَبِكَلَامِىْ ۖ فَخُذْ مَآ
اٰتَيْتُكَ وَكُنْ مِّنَ الشّٰكِرِيْنَ ﴿١٤٤﴾

၁၄၄။ (ထိုအခါ အလ္လာဟ်)အရှင်မြတ်သည် (ဤသို့)မိန့်ကြားတော်မူခဲ့လေသည်။ အို-(နဗီတမန်တော်)မူစာ၊ ဧကန်စင်စစ် ငါအရှင်မြတ်သည် အသင့်အား လူအများပေါ်၌ မိမိရစူလ်တမန်တော်အဖြစ်ကို ချီးမြှင့်တော်မူခြင်းအားဖြင့်လည်းကောင်း၊ ငါအရှင်မြတ် သည် အသင်နှင့် စကားပြောဆိုတော်မူခြင်းအားဖြင့်လည်းကောင်း၊ ရွေးချယ်မြှောက်စားတော်မူလိုက်ပြီ။ သို့ဖြစ်ပေရာ အသင်သည် အသင့်အား ငါအရှင်မြတ် ချီးမြှင့်ပေးသနားတော်မူသည်(များ)ကို ယူပါလေ။ ၎င်းပြင် အသင်သည် ကျေးဇူးတော်ကိုသိတတ်သူတို့တွင် အပါအဝင်ဖြစ်ပါလေ။ [၁]

وَكَتَبْنَا لَهٗ فِى الْاَلْوَاحِ
مِنْ كُلِّ شَىْءٍ مَّوْعِظَةً
وَّتَفْصِيْلًا لِّكُلِّ شَىْءٍ ۚ
فَخُذْهَا بِقُوَّةٍ وَّاْمُرْ

၁၄၅။ ထိုမှတပါး ငါအရှင်မြတ်သည် ထို(တမန်တော် မူစာ)အား (သာသနာရေးတွင် မုချ လိုအပ်သည့်) အလုံးစုံသော အဆုံးအမ ဩဝါဒများကိုလည်းကောင်း၊ (အမိန့်ပညတ်များနှင့် ပတ်သက်၍) *အရာခပ်သိမ်းတို့၏* [၂] ရှင်းလင်းချက်ကိုလည်းကောင်း၊ *၎င်းကျောက်သင်ပုန်းများတွင် ရေးမှတ်၍ ပေးသနားတော်မူခဲ့လေသည်။* [၃]

---

(၁) ဆိုလိုသည်ကား အို-မူစာ၊ ယခုအသင်သည် ငါ့အား မဖူးမြင်နိုင်ပေရှိစေ၊ သို့ရာတွင် အသင့်အား ယခု ငါချီးမြှင့်တော်မူသော ကျေးဇူးတော်များကား နည်းသလော။ ငါသည် အသင့်အား ရစူလ်တမန်တော်အဖြစ်လည်း မြှောက်စားတော်မူပြီ။ တောင်ရာတ်ကျမ်းမြတ်ကိုလည်း ချီးမြှင့်တော်မူပြီ၊ ငါသည်အသင်နှင့်လည်း တိုက်ရိုက် စကား ပြောကြားတော် မူပြီ။ သို့ဖြစ်ရာ အသင်သည် ငါ အရှင်မြတ် ချီးမြှင့်တော် မူသည်များကို လက်ခံ ယူပါလေ။ ပြီးနောက် ငါ အရှင်မြတ်၏ ကျေးဇူးတော်ကို သိတတ်သော ပုဂ္ဂိုလ်မွန်၊ ပုဂ္ဂိုလ်မြတ်တို့တွင် ပါဝင် ပါလေဟူလို။

(၂) ဤမုဗာရပါဌ်တော်တွင် ပါရှိသည့် "အရာအားလုံး" ဟူသည် ကမ္ဘာ့အဝှန်းရှိ အရာအားလုံးကို ဆိုလိုသည် မဟုတ်။ သာသနာရေးနှင့်ပတ်သတ်၍ လိုအပ်သမျှသော အမိန့်ပညတ်များနှင့် ပြဿနာများကိုသာ ဆိုလိုသည်။

(၃) အချို့ပညာရှင်များ၏ ယူဆချက်အရ ထိုကျောက်ပြားများအပေါ်တွင် ရေးတင်ထားတော်မူသော တရားဒေသနာတော်များသည်ပင်လျှင် တောင်ရာတ်ကျမ်းမည်၏။ အချို့ပညာရှင်များ၏ ယူဆချက်မှာကား ထိုကျောက်ပြားများကား တောင်ရာတ်ကျမ်း မကျရောက်မီအလျှင် ချီးမြှင့်တော်မူသော ကျောက်ပြားများဖြစ်သည်။ ➤➤

قَوْمَكَ يَأْخُذُوا بِأَحْسَنِهَا سَأُورِيكُمْ دَارَ الْفٰسِقِينَ ﴿١٤٥﴾

သို့ဖြစ်ပေရာ (အို–နဗီတမန်တော် မူစာ) အသင်သည် ၎င်းကို မြဲမြံစွာစွဲကိုင်၍ ထားပါလေ။ ၎င်းပြင် အသင်သည် မိမိအမျိုးသားတို့အား ယင်းဩဝါဒတော်များအနက်မှ အကောင်းဆုံးများကို (စွဲမြဲစွာ)လိုက်နာကြရန် ဆင့်ဆိုပါလေ၊ မကြာမြင့်မီ ငါအရှင်မြတ်သည် အသင်တို့အား အမိန့်တော် မနာခံသောသူတို့၏ နေရာဌာနကို ပြသတော်မူအံ့။

سَأَصْرِفُ عَنْ اٰيٰتِيَ الَّذِينَ يَتَكَبَّرُونَ فِي الْاَرْضِ بِغَيْرِ الْحَقِّ ۗ وَاِنْ يَّرَوْا كُلَّ اٰيَةٍ لَّا يُؤْمِنُوْا بِهَا ۚ وَاِنْ يَّرَوْا

၁၄၆။ ငါအရှင်မြတ်သည် ကမ္ဘာမြေ၌ မတရားသဖြင့် မာန်မာနထောင်လွှားနေသူတို့အား *မိမိ မုက္ခပါဠ်တော်များ(ကို နားလည်ခြင်း)မှ လှည့်၍ ထားတော်မူအံ့။* [၁] စင်စစ်သော်ကား ၎င်းတို့သည် သက်သေလက္ခဏာအလုံးစုံကို တွေ့မြင်ကြသည့်တိုင်အောင် ထိုသက်သေလက္ခဏာတို့ကို ယုံကြည်ကြမည် မဟုတ်ပေ။

---

➤➤ တောင်ရာတ်ကျမ်းကား ထိုကျောက်ပြားများအပြင် သီးသန့်တခြားဖြစ်သည်။

တမန်တော်မူစာအား အလ္လာဟ်အရှင်မြတ် ရေးမှတ်ပေးတော်မူလိုက်သော ကျောက်ပြားများသည်ပင် "တောင်ရာတ်" ကျမ်း ဖြစ်သည်။

(၁) အကြင်သူများသည် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်များရှေ့တွင် မတရားမောက်မာကြ၏။ မိမိတို့ကိုယ်ကို မိမိတို့ အထင်ကြီးကြ၏။ ၎င်းတို့အား ၎င်းတို့၏မာန်မာနသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို နာခံခြင်းမှ တားဆီးလျက်ရှိ၏။ သို့ဖြစ်လျှင် အလ္လာဟ်အရှင်မြတ်သည်လည်း ထိုသို့သောသူများ၏ စိတ်နှလုံးများကို မိမိ၏ဒေသနာတော်များဘက်မှ လှည့်ဖယ်၍ ထားတော်မူသည်။ သို့လှည့်ဖယ်ထားတော်မူလိုက်သည့်အခါ ၎င်းတို့သည် ထိုအရှင်မြတ်၏ဒေသနာတော်များဖြင့် အကျိုးခံစားခွင့် ရရှိနိုင်ကြတော့မည် မဟုတ်ပေ။ ထိုသို့သောသူများ၏အဖြစ်မှာ ၎င်းတို့သည် အဘယ်မျှပင် သက်သေလက္ခဏာတော်များကို မြင်ကြရသည်ဖြစ်စေ၊ အဘယ်မျှပင် မုက္ခပါဠ်တော်များကို ကြားနာရသည်ဖြစ်စေ၊ ၎င်းတို့သည် အနည်းငယ်စိုးစဉ်းမျှပင် လှုပ်ကြသည် မဟုတ်။ ၎င်းတို့တွင် အနည်းငယ်စိုးစဉ်းမျှပင် အရာမထင်။ တရားဒေသနာတော်၏လမ်းတော်သည် အဘယ်မျှပင် ဖြူးဖြောင့် ကျယ်ဝန်းသည်ဖြစ်စေ ၎င်းတို့သည် ထို တရားလမ်းတော်အပေါ်တွင် လျှောက်ကြမည်မဟုတ်။ သို့ရာတွင် မှားယွင်းသောလမ်းပေါ်တွင်မူ ၎င်းတို့သည် မိမိတို့၏ မသမာသော စိတ်အလိုလိုက်ပြီး အလျင်တစော အပြေးအလွှား လျှောက်ကြသည်ဖြစ်၏။ ဤကဲ့သို့ တရားဒေသနာတော်များကို မဟုတ်မမှန်ဟု ပြောဆိုခြင်း အလေ့ဆိုးနှင့် တရား ဒေသနာတော် များကို အလေးမမူ၊ ဂရုမစိုက်မှုများတွင် နစ်မွန်း၍ အချိန်ကြာရှည် ➤➤

سَبِيلَ الرُّشْدِ لَا يَتَّخِذُوهُ
سَبِيلًا ۚ وَإِن يَرَوْا سَبِيلَ
الْغَيِّ يَتَّخِذُوهُ سَبِيلًا ۚ
ذَٰلِكَ بِأَنَّهُمْ كَذَّبُوا
بِآيَاتِنَا وَكَانُوا عَنْهَا
غَافِلِينَ ﴿١٤٦﴾

ၡင်းပြင် ယင်းသူတို့သည် ဖြောင့်မတ်မှန်ကန်သောတရားလမ်းကို တွေ့မြင်ကြသော်လည်း ထိုလမ်းကို (မိမိတို့သွားရာ)လမ်းအဖြစ် ပြုလုပ်ကြမည်မဟုတ်ပေ။ သို့ရာတွင်ၡင်းတို့သည် အကယ်၍ မဖြောင့်မမှန် ကွေ့ကောက်သောလမ်းကို တွေ့မြင်ကြပါမူ ထိုလမ်းကို (မိမိတို့သွားရာ)လမ်းအဖြစ်ပြုလုပ်ကြပေမည်။ ဤ(သို့ လမ်းလွဲခြင်း)မှာကား ၊ယင်းသူတို့သည် ငါအရှင်မြတ်၏ သက်သေလက္ခဏာတော်များကို မဟုတ်မမှန်ဟု စွပ်စွဲ ငြင်းပယ်ခဲ့ကြသောကြောင့်ၡင်း၊ သက်သေလက္ခဏာတော်များကို အလေးမမူ ဂရုမစိုက်လျစ်လျူရှုခဲ့သောကြောင့်ၡင်း၊ ဖြစ်ချေသတည်း။

وَالَّذِينَ كَذَّبُوا بِآيَاتِنَا
وَلِقَاءِ الْآخِرَةِ حَبِطَتْ
أَعْمَالُهُمْ ۚ هَلْ يُجْزَوْنَ
إِلَّا مَا كَانُوا يَعْمَلُونَ ﴿١٤٧﴾

၁၄၇။ အမှန်သော်ကား အကြင်သူတို့သည် ငါအရှင်မြတ်၏မုက္ခပါဌ်တော်များကိုလည်းကောင်း၊ နောင်တမလွန်ဘဝနှင့် တွေ့ကြုံကြရမည်ကိုလည်းကောင်း၊ မဟုတ်မမှန်ဟု စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။ ထိုသူတို့ ပြုမူသမျှတို့သည် အချည်းနှီးပင် ဖြစ်သွားချေပြီ။ ၡင်းတို့သည် မိမိတို့ ပြုကျင့်ကြသည်များကိုသာ အစားပေးခြင်း ခံကြရမည်။

---

➤➤ လာသောအခါ လူများသည် အထက်ဖော်ပြပါအတိုင်း ဖြစ်သွားကြလေသည်။

အမှန်တရားကို မလိုမုန်းတီး၍ သွေဖည်ဆန့်ကျင်သော သူမိုက်များအဖို့ အဘယ်မျှပင် ကောင်းမွန်သော စံနမူနာများပင် ဖြစ်လင့်ကစား အကျိုးမရှိခဲ့ပေ။ မကောင်းသော စံနမူနာများသည် ၡင်းတို့အဖို့ အမြဲတစေ အထောက်အထား ဖြစ်ပေသည်။ ဤသည် ကမ္ဘာဦးအစမှ ယနေ့တိုင် ယင်းသူမိုက်တို့၏ အစဉ်အလာတရပ်ပင် ဖြစ်သည်။ ဤ မုက္ခပါဌ်တော်တွင် ယင်းသို့သော သူမိုက်တို့၏ စိတ်ဓာတ် ခဲယဉ်းမှုကိုပင် မိန့်ဆိုထားတော်မူသည်။

မလိုမုန်းတီး၍ အမှန်တရားကို ဆန့်ကျင်သော သူမိုက်များ၌ ယခုကဲ့သို့ အမင်္ဂလာဖြစ်ရခြင်းမှာ အလိုအလျောက် ဖြစ်ပေါ်ခြင်းမဟုတ်။ အမှန်မှာ ဤသို့ဖြစ်ရခြင်းသည် အမိန့်မနာခံမှု၊ အတွေးမှားမှု၊ မောက်မာမှုများကြောင့်ပင်ဖြစ်သည်။ ဆိုလိုသည်ကား ၡင်းတို့သည် သဘာဝသက်သေ လက္ခဏာများနှင့်တရားကျမ်းဂန်လာ အမိန့်ပညတ်များကို မိမိတို့ကိုယ်တိုင် တမင်သက်သက် မလိုမုန်းတီးသည့်အတွက် ငြင်းဆိုခဲ့ကြသည့် အတွက်ကြောင့်သာ ဖြစ်ပေသတည်း။ မာဂျိဒီ။အ-၂။စ-၃၅၇။အအ-၁၉၇

وَاتَّخَذَ قَوْمُ مُوسَىٰ مِنْ بَعْدِهِ مِنْ حُلِيِّهِمْ عِجْلًا جَسَدًا لَّهُ خُوَارٌ ۚ أَلَمْ يَرَوْا أَنَّهُ لَا يُكَلِّمُهُمْ وَلَا يَهْدِيهِمْ سَبِيلًا ۘ اتَّخَذُوهُ وَكَانُوا ظَالِمِينَ ﴿١٤٨﴾

**၁၄၈။** ၎င်းပြင် (နဗီတမန်တော်)မူစာ၏ အမျိုးသားများသည် [၁] ထို(နဗီတမန်တော်)မူစာ (သည် အလ္လာဟ်အရှင်မြတ် ချိန်းချက်တော်မူသည့်အတိုင်း တောင်ရာတ်ကျမ်းကိုယူရန် ၎င်းတို့အား ထား၍ ထွက်ခွာသွားပြီး)နောက်တွင် မိမိတို့၏ လက်ဝတ်လက်စားများဖြင့် နွားငယ်ကလေး ခန္ဓာကိုယ်သဏ္ဍာန်ကိုပြုလုပ်ကြလေသည်။ ထိုနွားငယ်၏ ခန္ဓာကိုယ်အတွင်း၌ အသံတမျိုးရှိခဲ့၏။

ထိုနွားငယ်သည် ၎င်းတို့နှင့် စကားလည်း မပြော၊ ၎င်းတို့အား မည်သည့် လမ်းကိုမျှလည်း မညွှန်နိုင်သည်ကို ၎င်းတို့ မသိကြလေသလော။ ၎င်းတို့သည် ယင်းနွားငယ်ကိုပင် (ကိုးကွယ်ရာ) ပြုလုပ်ခဲ့ကြလေသည်။ ၎င်းပြင် ယင်းသူတို့သည် (မိမိတို့ကိုယ်ကို မိမိတို့ပင်) မတရားနှိပ်စက်ညှဥ်းပန်းသူများဖြစ်သွားခဲ့ကြကုန်သတည်း။

وَلَمَّا سُقِطَ فِي أَيْدِيهِمْ وَرَأَوْا أَنَّهُمْ قَدْ ضَلُّوا قَالُوا لَئِن لَّمْ يَرْحَمْنَا رَبُّنَا وَيَغْفِرْ لَنَا لَنَكُونَنَّ مِنَ الْخَاسِرِينَ ﴿١٤٩﴾

**၁၄၉။** ထို့ပြင် ၎င်းတို့သည် *ဝမ်းနည်းပက်လက်ဖြစ်၍* [၂] မိမိတို့သည် လမ်းမှားနေကြပြီဖြစ်ကြောင်း သိမြင်ကြသောအခါ (ဤသို့ ညည်းညူမြီတမ်း ပြောဆိုကြကုန်၏။)အကယ်၍ ငါတို့၏အရှင်မြတ်သည် ငါတို့အား သနားကြင်နာတော်မမူခဲ့ပါလျှင် (အပြစ်)မှလွတ်ငြိမ်းချမ်းသာခွင့်ပေးတော်မမူခဲ့ပါလျှင် ဧကန်မလွဲ ငါတို့သည် ဆုံးရှုံး နစ်နာသူတို့တွင် အပါအဝင် ဖြစ်ကြရတော့မည်။

(၁) တမန်တော်မူစာ (အလိုင်ဟစ္စလာမ်)၏ အမျိုးသားများသည် တမန်တော်မူစာ တူရ်တောင်သို့ တောင်ရာတ်ကျမ်း သွားယူနေခိုက် ရွှေထည်ငွေထည်များဖြင့် နွားရုပ်လုပ်၍ ကိုးကွယ်ခဲ့ကြ၏။ ဤကားဖြစ်ကြောင်းအမှန်ပင်။ ဤမုကဒ္ဒပါဠ်တော်တွင်လည်း နွားရုပ်ပြုလုပ်၍ ကိုးကွယ်ခဲ့သူများမှာ “တမန်တော်မူစာ၏ အမျိုးသားများ”ဟူ၍ အတည့်အလင်း ဖွင့်ဟမိန့်ဆိုထားတော်မူသည်။

وَلَمَّا رَجَعَ مُوسَىٰٓ إِلَىٰ قَوْمِهِۦ
غَضْبَٰنَ أَسِفًا قَالَ بِئْسَمَا
خَلَفْتُمُونِى مِنۢ بَعْدِىٓ ۖ أَعَجِلْتُمْ
أَمْرَ رَبِّكُمْ ۖ وَأَلْقَى ٱلْأَلْوَاحَ
وَأَخَذَ بِرَأْسِ أَخِيهِ يَجُرُّهُۥٓ
إِلَيْهِ ۚ قَالَ ٱبْنَ أُمَّ إِنَّ
ٱلْقَوْمَ ٱسْتَضْعَفُونِى
وَكَادُوا۟ يَقْتُلُونَنِى فَلَا
تُشْمِتْ بِىَ ٱلْأَعْدَآءَ وَلَا
تَجْعَلْنِى مَعَ ٱلْقَوْمِ
ٱلظَّٰلِمِينَ ﴿١٥٠﴾

**၁၅၀**။ ထို့နောက် (နဗီတမန်တော်) မူစာသည် မိမိအမျိုးသားတို့ထံသို့ အမျက်ထွက်လျက် (ဝမ်းနည်းပူဆွေးစွာ)ပြန်လာခဲ့သောအခါ "အသင်တို့သည် ငါ မရှိသည့်နောက် *ငါ၏ကွယ်ရာ၌ ပြုမူခဲ့ကြသည်မှာ အလွန်ဆိုးယုတ်လှပေတကား။* [၁] အသင်တို့သည် မိမိတို့အား မွေးမြူတော်မူသော အရှင်မြတ်၏အမိန့်တော် (မရောက်မီ) *အလျင်တဆောပြုခဲ့ကြလေသလော* [၂] ဟု ပြောကြားလေသည်။ ၎င်းပြင် ထို(နဗီတမန်တော်) မူစာသည် သင်ပုန်းများကို (တဖက်တွင်)ချထားခဲ့လေသည်။ ထို့နောက် မိမိနောင်တော် (နဗီတမန်တော် ဟာရူန်၏) ဦးခေါင်းကိုဆွဲကိုင်၍ ယင်းနောင်တော်ကို မိမိဘက်သို့ ဆွဲယူလေသည်။

(ထိုအခါ) ထိုနောင်တော် (နဗီတမန်တော် ဟာရူန်)က အို-ငါ၏မိခင်၏သား၊ (ညီတော်မောင်) ဧကန်စင်စစ် အမျိုးသားတို့သည် ငါ့အား အားနည်းသောသူဟူ၍ ယူဆခဲ့ကြလေသည်။ ထို့ပြင် ၎င်းတို့သည် ငါ့အား သတ်အံ့ဆဲဆဲပင်ဖြစ်ခဲ့ကြသည်။ သို့ဖြစ်ပေရာ အသင်သည် ငါ့အပေါ်၌ ရန်သူများ ဝမ်းသာအားရဖြစ်အောင်မပြုပါလေနှင့်။ ၎င်းပြင် အသင်သည် ငါ့အား မတရားကျူးလွန်သောသူတို့၏ ဘောင်အတွင်းသို့ မသွင်းပါလေနှင့်ဟု ပြောကြားလေသတည်း။

---

(၂) အစ္စရာအီလီမျိုးနွယ်ဝင်တို့သည် မိမိတို့ချွတ်ချော်တိမ်းပါး အမှားကြီးမှားခဲ့ကြသည်ကို စဉ်းစားဆင်ခြင် သိမြင်ကြသောအခါ ဝမ်းနည်းပက်လက်ဖြစ်ကြ၏။ ယူကြုံးမရ အပူလုံးခကြ၏။ အရှက်တကွဲ အကျိုးနည်းဖြစ်ကြ၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်က ကုရ်အာန်ကျမ်းမြတ် (၂း၅၄)တွင် ပါရှိသည့်အတိုင်း ၎င်းတို့အား သီးသန့်နည်းဖြင့်ဝန်ချတောင်းပန်ရန် မိန့်ကြားတော်မူလေသည်။ကြည့်-ထာနဝီ။ အ-၄၊ စ-၄၄။

(၁) တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)သည် တောင်ရာတ်ကျမ်းမြတ်ကို ယူဆောင်ရန် "တူရ်" တောင်ပေါ်သို့ သွားရောက်ခဲ့၏။ တမန်တော်သည် တောင်ပေါ်၌ပင်ရှိသေး၏။ ထိုအချိန်မှာပင် မိမိ၏အမျိုးသားများသည် အယူမှောက်မှား၍ "ရှရ်စ်က်"တွင် နစ်မွန်းနေကြပြီဖြစ်ကြောင်း "ဝဟီ" ဖြင့် သိခဲ့ရ၏။ ➢➢

قَالَ رَبِّ اغْفِرْ لِي وَلِأَخِي وَأَدْخِلْنَا فِي رَحْمَتِكَ ۖ وَأَنتَ أَرْحَمُ الرَّاحِمِينَ ﴿١٥١﴾

၁၅၁။ (ထိုအခါ) ထို(နဗီတမန်တော်) မူစာသည် (အလ္လာဟ် အရှင်မြတ် အထံတော်၌ ဤသို့) လျှောက်ထား ပန်ကြားလေသည်။ အို–ကျွန်တော်မျိုး၏အရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအားလည်းကောင်း၊ ကျွန်တော်မျိုး၏နောင်တော် (နဗီတမန်တော် ဟာရူန်)အားလည်းကောင်း၊ (အပြစ်မှ) လွတ်ငြိမ်းချမ်းသာခွင့်ပေးသနားတော်မူပါ။ ၎င်းပြင် အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား မိမိ ကရုဏာတော်အတွင်း သွင်းတော်မူပါ။ အမှန်စင်စစ် သော်ကား အရှင်မြတ်သည် သနားကြင်နာသူ အပေါင်းတို့တွင် အကြင်နာဆုံးသော အရှင်မြတ်ပင် ဖြစ်တော်မူပါသတည်း။

---

➤➤ ထို့အတွက်ကြောင့် တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)သည် ဒေါသအမျက်ထွက်ကာ ဝမ်းနည်းပူဆွေးစွာဖြင့် မိမိ၏အမျိုးသားများထံသို့ ပြန်လာခဲ့ပြီး "အသင်တို့သည် ကျွန်ုပ်မရှိခိုက် အလွန်ဆိုးယုတ်သောအပြစ်ကို ကျူးလွန်ကြပြီ။ အသင်တို့သည် မိမိတို့အားမွေးမြူတော်မူသော အရှင်မြတ်၏အမိန့်တော်(မရောက်မီပင်) အလျင်တဆော ပြုကြသလော" ဟုဆို၏။ ဤအကြောင်း ကုရ်အာန်ကျမ်းမြတ် (၂၀း၈၃–၈၉)တွင် အကျယ်တဝင့် ပါရှိသည်။

(၂) ဆိုလိုသည်ကား တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)က မိမိ၏အမျိုးသားများအား ပြောဆိုခဲ့သည်မှာ "ကျွန်ုပ်သည် အသင်တို့အဖို့ အလ္လာဟ်အရှင်မြတ်အထံတော်မှ အမိန့်ပညတ်တော်များ ယူဆောင်ရန် "တူရ်" တောင်သို့ သွားရောက်ခဲ့ခြင်းသာဖြစ်သည်။ ရက်ပေါင်း ၄၀–မှာလည်း အလ္လာဟ်အရှင်မြတ် သတ်မှတ်ထားတော် မူသော အချိန်ပိုင်းသာဖြစ်သည်။ ယခုမူ အသင်တို့သည် ထိုအရှင်မြတ် သတ်မှတ်ထားတော်မူသော အချိန်ပိုင်း ပြည့်အောင် ထိုအရှင်မြတ်၏ အမိန့်ပညတ်တော်များ ရောက်ရှိလာအောင်ကိုပင် မစောင့်ဆိုင်းနိုင်ခဲ့ကြပေ။ အချိန်သည် အလွန်တရာမှ ရှည်လျားသွား လေသည် မဟုတ်။ ကာလသည် အလွန် ကြာညောင်းလေသည် မဟုတ်။ သို့ပါလျက် အသင်တို့သည် ဤမျှ အလျင်စလိုဖြစ်ပြီး အလ္လာဟ်အရှင်မြတ်၏ အမျက်တော်ကို မိမိတို့ထံ ဖိတ်ခေါ်ကြသလော။ ဤသည့်အကြောင်းကို ကုရ်အာန်ကျမ်းမြတ် (၂၀း၈၆)တွင် မိန့်ဆို ထားတော်မူသည်။

တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)သည် ကျောက်ပြားများကို ချထားလိုက်ပြီး မိမိ၏နောင်တော်ကြီး၏ ဦးခေါင်းကို ဆွဲကိုင်၍ မိမိဘက်သို့ ဆွဲလေ၏။ ယင်းသို့ပြုမူခြင်းမှာ တမန်တော်မူစာသည် "တောင်ဟီဒ်"တွင် နစ်မွန်းနေခဲ့ခြင်း၊ "တောင်ဟီဒ်" ဆန့်ကျင်မှုကို အလွန်တရာမှုပင် မခံလိုခဲ့ခြင်း၊ မိမိ၏စိတ်ကိုပင် မချုပ်တည်းနိုင်ခဲ့ခြင်းများကြောင့်ပင်ဖြစ်သည်။ ထို့အတွက်ကြောင့်လည်း ထိုသို့သော အပြုအမူများပေါ်တွင် အပြစ်ဆိုဖွယ်ရာမရှိချေ။ ထိုအပြုအမူများသည် သူတစ်ပါးအဖို့လည်း စံနမူနာ မဖြစ်နိုင်ပေ။

إِنَّ الَّذِينَ اتَّخَذُوا الْعِجْلَ
سَيَنَالُهُمْ غَضَبٌ مِّن رَّبِّهِمْ
وَذِلَّةٌ فِي الْحَيَاةِ الدُّنْيَا
وَكَذَٰلِكَ نَجْزِي الْمُفْتَرِينَ ﴿١٥٢﴾

၁၅၂။ ဧကန်စင်စစ် နွားငယ်(ဆင်းတု)ကို (မိမိတို့၏ကိုးကွယ်ရာ) ပြုလုပ်ကြသော သူတို့အပေါ်၌ ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် အထံတော်မှ မကြာမြင့်မီ ဤလောက၌ပင် အမျက် *ဒေါသသည်လည်းကောင်း၊ ဂုဏ်သရေနိမ့်ကျခြင်းသည် လည်းကောင်း၊ သက်ရောက်မည်။*[၁] စင်စစ်သော်ကား ငါအရှင်မြတ်သည် ကြံဖန်စွပ်စွဲသူတို့အား ဤနည်း အတိုင်းပင် အပြစ်ပေးတော်မူသည်။

وَالَّذِينَ عَمِلُوا السَّيِّئَاتِ ثُمَّ
تَابُوا مِن بَعْدِهَا وَآمَنُوا
إِنَّ رَبَّكَ مِن بَعْدِهَا
لَغَفُورٌ رَّحِيمٌ ﴿١٥٣﴾

၁၅၃။ သို့ရာတွင် အကြင်သူတို့သည် မကောင်းမှု ဒုစရိုက်များကို ပြုလုပ်မိခဲ့ကြကုန်၏။ ၎င်းနောက် ထိုသူတို့သည် ထိုသို့မကောင်းမှုများ (ပြုလုပ်ပြီး) နောက် ဝန်ချတောင်းပန်ကြကုန်၏။ ၎င်းပြင် ထိုသူတို့ သည် အီမာန်ယုံကြည်ခြင်း သဒ္ဓါတရားလည်း ထားရှိ ကြကုန်၏။ (သို့ဖြစ်လျှင်) ဧကန်စင်စစ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ထို(သို့ ဝန်ချတောင်းပန်၍ယုံကြည်ခြင်း သဒ္ဓါတရားထားရှိကြ ပြီး)နောက် (၎င်းတို့အား) မုချ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူမည့်အရှင်၊ သနားကြင်နာ ညှာတာ တော်မူသည့်အရှင် ဖြစ်တော်မူပေသတည်း။ [၂]

(၁) နွားငယ်ကို ကိုးကွယ်သောသူများထံ ဤပစ္စက္ခဘဝ၌ သက်ရောက်ခဲ့သော အပြစ်ဒဏ်ကား ကုရ်အာန်ကျမ်းမြတ် (၂း၅၄)တွင်ပါရှိသော အပြစ်ဒဏ်(ဝါ)နွားငယ်ကို ကိုးကွယ်ခဲ့သောသူများအား နွားငယ်ကို မကိုးကွယ်ခဲ့သော သူများက သတ်ဖြတ်ခြင်းပင်ဖြစ်သည်။ "မုရ်တဒ္ဒ" ခေါ် အစ္စလာမ်သာသနာမှ ဖောက်ပြန်သွားသူ၏ အပြစ်ဒဏ်မှာ ဤပစ္စက္ခဘဝ၌ သတ်ပစ်ခြင်းပင်ဖြစ်ကြောင်း သိရှိနိုင်ပေသည်။

(၂) ဤမုက္ခပါဠ်တော်၏ အလိုသဘောကား အကြင်သူများသည် မကောင်းမှုများကို ပြုမိကြ၏။ ဥပမာ နွားငယ်ကို ကိုးကွယ်မိကြ၏။ သို့ရာတွင် ၎င်းတို့သည် ထိုသို့ မကောင်းမှုများကို ပြုလုပ်မိကြပြီးနောက် သတိသံဝေဂ နောင်တရကာ အလ္လာဟ်အရှင်မြတ်ထံတော်တွင် ဝန်ချတောင်းပန်ကြ၏။ ပြီးနောက် "ကုဖရ်" သွေဖည်ငြင်းဆန် မနာခံမှုကို စွန့်လွှတ်၍ "အီမာန်" ယုံကြည်လာခဲ့ကြ၏။ သို့ဖြစ်လျှင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏အပြစ်များကို ထိုသို့ ဝန်ချတောင်းပန်ပြီးသည့်နောက်တွင် ချမ်းသာခွင့်ပေးတော်မူမည်။ ၎င်းတို့အပေါ် တွင်လည်း ကရုဏာထားတော်မူမည်ဖြစ်သည်။ ကြည့်-ထာနဝီ။

وَلَمَّا سَكَتَ عَن مُّوسَى
الْغَضَبُ أَخَذَ الْأَلْوَاحَ ۖ وَفِي
نُسْخَتِهَا هُدًى وَرَحْمَةٌ لِّلَّذِينَ
هُمْ لِرَبِّهِمْ يَرْهَبُونَ ﴿١٥٤﴾

**၁၅၄။** ထို့နောက် (နဗီတမန်တော်)မူစာ၏ ဒေါသ ပြေငြိမ်းသွားသောအခါ (ထိုတမန်တော်မူစာသည်) သင်ပုန်းများကို ကောက်ယူလေသည်။ အမှန်သော်ကား (ထိုရေးသား၍ထားသော သင်ပုန်းများတွင်) မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ကြောက်ရွံ့ကြကုန်သောသူတို့အဖို့ တရားဓမ္မညွှန်ကြားချက်သည်လည်းကောင်း၊ ကရုဏာတရားသည်လည်းကောင်း၊ ပါရှိခဲ့လေသတည်း။

وَاخْتَارَ مُوسَىٰ قَوْمَهُ سَبْعِينَ
رَجُلًا لِّمِيقَاتِنَا ۖ فَلَمَّا أَخَذَتْهُمُ
الرَّجْفَةُ قَالَ رَبِّ لَوْ شِئْتَ
أَهْلَكْتَهُم مِّن قَبْلُ وَإِيَّايَ ۖ
أَتُهْلِكُنَا بِمَا فَعَلَ السُّفَهَاءُ
مِنَّا ۖ إِنْ هِيَ إِلَّا فِتْنَتُكَ
تُضِلُّ بِهَا مَن تَشَاءُ

**၁၅၅။** ထို့နောက် (နဗီတမန်တော်) မူစာသည် မိမိအမျိုးသားတို့အနက်မှ ယောကျ်ားခုနစ်ဆယ်ကို ငါ အရှင်မြတ် *ချိန်းချက်သတ်မှတ်တော်မူသောအချိန်* [၁] (တွင် မိမိနှင့်အတူခေါ်ဆောင်ခဲ့ရန်) အလို့ငှာ ရွေးချယ်ခဲ့လေသည်။ ထို့နောက် ၎င်းတို့သည် မြေငလျင်ဘေးသင့်၍ပျက်စီးသွားသောအခါ (ထိုနဗီတမန်တော်) မူစာက (ဤသို့) လျှောက်ထားခဲ့လေသည်။ "အို-ကျွန်တော်မျိုးအား ဖန်ဆင်း မွေးမြူတော်မူသော အရှင်၊ အရှင်မြတ်သည် (ဤအတိုင်းသာ) အလိုရှိတော်မူခဲ့ပါမူ ထိုသူတို့အားလည်းကောင်း၊ ကျွန်တော်မျိုးအားလည်းကောင်း၊ ယခင်မှုလကပင် ပျက်စီးစေတော်မူပြီးဖြစ်အံ့။

---

(၁) ဤမုကဒ္ဒပါဠ်တော်တွင် ပါရှိသော "မီကာတ်" သတ်မှတ်ထားသော အချိန်ပိုင်းသည် တမန်တော်မူစာအား တောင်ရာတ်ကျမ်းမြတ် ချီးမြှင့်တော်မူရန် သတ်မှတ်ထားတော်မူခဲ့သော အချိန်ပိုင်းမှအပ ဖြစ်သည်။ ဤသို့ ယူဆခြင်းသည် ပိုမိုခိုင်လုံသည်ဟု ယူဆရပေသည်။ ၎င်းပြင် ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်ကျမ်းလာ မုကဒ္ဒပါဠ်တော်များ၏ အစီအစဉ်ကို ထောက်ရှုခြင်းအားဖြင့်လည်း ဤအဖြစ်အပျက်သည် နွားကိုးကွယ်မှုနှင့် ယင်းကိုးကွယ်မှုအတွက် ပြစ်ဒဏ်ရရှိပြီးနောက်မှ ဖြစ်ပေါ်လာခဲ့သော အဖြစ်အပျက်ဖြစ်သည်ဟု သိရှိနားလည်ရပေသည်။ သို့ရာတွင် ကုရ်အာန်ကျမ်းမြတ် (၄း၁၅၃)တွင်လာရှိသော
( فَقَالُوا أَرِنَا اللَّهَ جَهْرَةً فَأَخَذَتْهُمُ الصَّاعِقَةُ بِظُلْمِهِمْ ۚ ثُمَّ اتَّخَذُوا الْعِجْلَ مِن بَعْدِ مَا جَاءَتْهُمُ الْبَيِّنَاتُ )
ဟူသော မုကဒ္ဒပါဠ်တော်ကို ထောက်ရှုခြင်းဖြင့် နွားကိုးကွယ်မှုသည် ဤအဖြစ်အပျက်၏ နောက်တွင်မှ ဖြစ်ပေါ်လာခဲ့သော အဖြစ်အပျက်ဖြစ်သည်မှာ အထင်အရှားပင် ဖြစ်ပေသည်။ 

وَتَهْدِي مَن تَشَاءُ ۖ أَنتَ وَلِيُّنَا فَاغْفِرْ لَنَا وَارْحَمْنَا ۖ وَأَنتَ خَيْرُ الْغَافِرِينَ ﴿١٥٥﴾

အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ကျွန်တော်မျိုးတို့အနက်မှ အသိတရားကင်းမဲ့သော အချို့လူဗာလတို့၏ ပြုမူချက်ကြောင့် သေကြေပျက်စီးစေတော်မူပါမည်လော။ ဤသည်ကား အရှင်မြတ်၏စမ်းသပ်မှုတရပ်သာလျှင် ဖြစ်ပါသည်။ ထိုစမ်းသပ်မှုဖြင့် အရှင်မြတ်သည် မိမိအလိုရှိသူအား လမ်းမှားစေတော်မူ၏။ ထိုနည်းတူစွာ အရှင်မြတ်သည် (ထိုစမ်းသပ်မှုဖြင့်) မိမိအလိုရှိသူအား လမ်းမှန်သို့ ရောက်စေတော်မူ၏။ အရှင်မြတ်သည်ပင်လျှင် ကျွန်တော်မျိုးတို့၏ကိစ္စ(အဝဝတို့)ကို (ပြီးစီးအောင်) ဆောင်ရွက်ပေးတော်မူသောအရှင် ဖြစ်တော်မူပေသည်။ သို့ဖြစ်ပါ၍ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား (အပြစ်မှ)လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူပါ။

---

➤➤ (ဖြစ်ရပ်မှန်ကိုကား အလ္လာဟ်အရှင်မြတ်သည်ပင် ပိုမို၍ သိတော်မူပေသတည်း။)

ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ် (၂:၅၁-၅၆) တွင် အကျဉ်းအားဖြင့် ပါရှိခဲ့လေပြီ။ အစ္စရာအီလီ အမျိုးသားတို့က တမန်တော်မူစာအား "ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်၏ မုက္ခပါဌ်တော်များကို မိမိတို့ကိုယ်တိုင် မကြားရသမျှ ကာလပတ်လုံး အသင်၏စကားများကို လက်ခံကြမည်မဟုတ်" ဟု ပြောဆိုခဲ့ကြ၏။ ယင်းသို့ ပြောဆိုကြသည့်အခါ တမန်တော်မူစာသည် ၎င်းတို့အနက် အကြီးအကဲ (၇၀)တို့အား ရွေးချယ်၍ မိမိနှင့်အတူ "တူရ်" တောင်ပေါ်သို့ ခေါ်ဆောင်သွားခဲ့လေသည်။ ထိုအကြီးအကဲ (၇၀)တို့သည် အလ္လာဟ်အရှင်မြတ်၏ မုက္ခပါဌ်တော်များကို ၎င်းတို့ကိုယ်တိုင် ကြားနာခဲ့ကြရသောအခါ "ကျွန်ုပ်တို့သည် အရှင်မြတ်အား မိမိတို့၏မျက်စိများဖြင့် မျက်ဝါးထင်ထင် မဖူးမြင်ကြရသမျှ ကာလပတ်လုံး မယုံကြည်နိုင်ကြပါ" ဟု ပြောဆိုကြပြန်လေသည်။ ယင်းကဲ့သို့ မရိုမသေ၊ မလေးမစားမခန့်မညား ပြောဆိုခဲ့ကြသည့်အတွက် ၎င်းတို့၏အောက်မှ ပြင်းထန်သော မြေလျင်တုန်လှုပ်၍ အထက်မှ ပြင်းထန်လှသော မိုးကြိုးလောင်မီးကျခဲ့လေသည်။ ၎င်းတို့သည် ကြောက်လန့်တုန်လှုပ်၍ သေသွားခဲ့ကြလေသည်။ သို့မဟုတ် သေသူများ၏အဖြစ်သို့ ရောက်ရှိသွားခဲ့ကြလေသည်။ ထိုအခါ တမန်တော်မူစာသည် မိမိကိုယ်ကို ၎င်းတို့တွင်အပါအဝင်ဟု ယူဆကာဤမုက္ခပါဌ်တော်တွင် ပါရှိသည့်အတိုင်း လေးနက်စွာ ဆုပန်ကြားခဲ့လေသည်။ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာ၏ ပန်ကြားချက်ကို လက်ခံ သဘောတူတော်မူ၍ ၎င်းတို့အား ခွင့်လွှတ်တော်မူပြီး ပြန်လည် ရှင်ထစေတော်မူခဲ့လေသည်။ ဤသို့ ပြန်လည် ရှင်ထစေတော် မူခဲ့သည့်အကြောင်း ကုရ်အာန်ကျမ်းမြတ် (၂:၅၆)တွင် မိန့်ဆိုထားတော်မူသည်။

ငင်းပြင် အရှင်မြတ်သည် ကျွန်တော်မျိုးတို့အားသနားညှာတာတော်မူပါ။ အမှန်စင်စစ်သော်ကား အရှင်မြတ်သည် အကောင်းဆုံး လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသောအရှင်မြတ်ပင်တည်း။

**၁၅၆**။ ထိုမှတပါး အရှင်မြတ်သည် ကျွန်တော်မျိုးတို့အဖို့ဤလောက၌လည်းကောင်း၊ နောင်တမလွန်ဘဝ၌လည်းကောင်း၊ ကောင်းကျိုးချမ်းသာကို သတ်မှတ်ပြဋ္ဌာန်း၍ ပေးတော်မူပါ။ ကျွန်တော်မျိုးသည် ဧကန်စင်စစ် အရှင်မြတ်ဘက်တော်သို့သာလျှင် ပြန်၍လှည့်ခဲ့ကြလေပြီ။ (ထိုအခါ) အရှင်မြတ်က (ဤသို့) မိန့်ကြားတော်မူခဲ့လေသည်။ ငါအရှင်မြတ်သည် မိမိအပြစ်ဒဏ်ကို မိမိအလိုရှိတော်မူသောသူ၏အပေါ်၌သာလျှင် သက်ရောက်စေတော်မူ၏။ သို့ရာတွင် ငါအရှင်မြတ်၏ ကရုဏာတော်သည်ကား အရာခပ်သိမ်းတို့ကို လွှမ်းခြုံလျက်ရှိချေပြီ။

သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ထိုကရုဏာတော်ကို ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်ကြသည့်ပြင် ဇကာတ်ခေါ် တရားဝင်ဒါနကြေးကို ပေးဆောင်သောသူတို့အဖို့လည်းကောင်း၊ ငါအရှင်မြတ်၏ သက်သေလက္ခဏာတော်တို့ကို ယုံကြည်သော သူတို့အဖို့လည်းကောင်း၊ မုချ သတ်မှတ်ပြဋ္ဌါန်းတော်မူပေအံ့။ [၁]

وَاكْتُبْ لَنَا فِي هَٰذِهِ الدُّنْيَا
حَسَنَةً وَفِي الْآخِرَةِ إِنَّا
هُدْنَا إِلَيْكَ ۚ قَالَ عَذَابِي
أُصِيبُ بِهِ مَنْ أَشَاءُ ۖ وَرَحْمَتِي
وَسِعَتْ كُلَّ شَيْءٍ ۚ فَسَأَكْتُبُهَا
لِلَّذِينَ يَتَّقُونَ وَيُؤْتُونَ
الزَّكَاةَ وَالَّذِينَ هُمْ
بِآيَاتِنَا يُؤْمِنُونَ ﴿١٥٦﴾

---

(၁) ဤမုကဒ္ဒပါဠ်တော်၌ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ 'ရဟ်မတ်' ကရုဏာတော်ကို 'တာကွာဝါ' တရားထားရှိသူများ၊ "ဇကာတ်" ပေးသူများနှင့် ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော်များကို "အီမာန်" ယုံကြည်သူများအဖို့ ရေးမှတ်တော်မူမည်ဟူ၍ မိန့်ဆိုထားတော်မူသည်။ "တာကွာဝါ"သည် စိတ်နှလုံးနှင့်သက်ဆိုင်၏။ "ဇကာတ်" သည် (ဥစ္စာပစ္စည်းနှင့် သက်ဆိုင်၏။) သက်သေလက္ခဏာတော်များကို "အီမာန်" ယုံကြည်ခြင်းသည် "အကာအစ်ဒ်" ယုံကြည်ချက်များနှင့် သက်ဆိုင်၏။ တာကွာဝါ၊ ဇကာတ်နှင့်အီမာန်တို့သည် အသီးသီးသော ကျင့်စဉ် အမျိုးအစားများ ဖြစ်ပေသည်။ ထို့အတွက် အလ္လာဟ်အရှင်မြတ်သည် ဤမုကဒ္ဒပါဠ်တော်တွင် ကျင့်စဉ်အသီးသီးမှ နမူနာအဖြစ် တမျိုးစီ ထုတ်ဖော် မိန့်ဆိုထားတော်မူခြင်းဖြစ်ပေသည်။ ➤➤

၁၅၇။ အကြင်သူတို့သည် *အကြင်စာပေမတတ်သော* [၁] ရစူလ်၊ နဗီတမန်တော်မြတ်၏(အမိန့်တော်များ)ကို လိုက်နာကြကုန်၏။ ထိုသူတို့သည် ထိုရစူလ်၊ နဗီတမန်တော်မြတ်(၏ ဝိသေသဂုဏ်ထူးများ)ကို မိမိတို့ထံရှိ တောင်ရာတ်ကျမ်းတော်တွင်လည်းကောင်း၊ အင်န်ဂျီလ်ကျမ်းတော်တွင်လည်းကောင်း၊ ရေးသားပြီးဖြစ်သည်ကို တွေ့ရှိကြလေသည်။ ယင်းရစူလ်၊ နဗီတမန်တော်မြတ်သည် ထိုသူတို့အား ကောင်းမှုသုစရိုက်များကို(ပြုလုပ်ကြရန်) ညွှန်ကြားသည့်အပြင် မကောင်းမှု ဒုစရိုက်များမှ ကြဉ်ရှောင်ကြရန် မြစ်တားလေသည်။

၎င်းပြင်ထိုသူတို့အဖို့ စင်ကြယ်သောအရာများကို (စားသုံး)ခွင့်ပြုကာ မသန့်စင်သောအရာများကို ၎င်းတို့အပေါ်၌ (စားသုံးခြင်းမပြုကြရန်) တားမြစ်လေသည်။ ထိုမှတပါး ထိုသူတို့အပေါ်၌(ယခုတိုင်အောင်) တည်ရှိနေသော ဝန်နှင့်လည်ကွင်းများ (အတုပ်အနှောင်များ)ကိုလည်း ၎င်းတို့အပေါ်မှ ချ၍ပေးလေသည်။

اَلَّذِيْنَ يَتَّبِعُوْنَ الرَّسُوْلَ النَّبِيَّ الْاُمِّيَّ الَّذِيْ يَجِدُوْنَهٗ مَكْتُوْبًا عِنْدَهُمْ فِي التَّوْرٰىةِ وَالْاِنْجِيْلِ يَاْمُرُهُمْ بِالْمَعْرُوْفِ وَيَنْهٰىهُمْ عَنِ الْمُنْكَرِ وَيُحِلُّ لَهُمُ الطَّيِّبٰتِ وَيُحَرِّمُ عَلَيْهِمُ الْخَبٰٓئِثَ وَيَضَعُ عَنْهُمْ اِصْرَهُمْ وَالْاَغْلٰلَ الَّتِيْ كَانَتْ عَلَيْهِمْ ۗ فَالَّذِيْنَ اٰمَنُوْا بِهٖ وَعَزَّرُوْهُ

---

➤➤ ထိုအရှင်မြတ်၏ ကရုဏာတော်သည် ဖော်ပြပါ ဂုဏ်အင်္ဂါသုံးရပ်၌သာလျှင် တည်ရှိနေသည်ဟူ၍ မယူဆအပ်ပေ။ ကြည့်-ထာနဝီ။အ-၄၊၈-၄၇။

(၁) "အွန်မ္မီ" ဟူသောပုဒ်ကို အနက်ဖွင့်ရာတွင် အဆိုပြားလျက်ရှိပေသည်။

"အွန်မ္မီ" ဟူသော ဂုဏ်ပုဒ်သည် "မိခင်" ၏အနက်ပေးသော "အွန်မ္မ" ဟူသော ပုဒ်နှင့်ဆက်စပ်၍ သုံးနှုန်းထားတော်မူခြင်းဖြစ်သည်။ အမိဝမ်းတွင်းမှ မွေးဖွားလာသော ကလေးသူငယ်တဦးသည် မည်သူတဦးတယောက်၏ တပည့်မျှ မဟုတ်သကဲ့သို့ တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည်လည်း မိမိ၏တသက်တာပတ်လုံး သတ္တဝါများအနက်၊ မည်သူတဦးတယောက်၏ ရှေ့မှောက်၌မျှ တပည့်ခံတော်မမူခဲ့ပေ။ ယင်းသို့ဖြစ်ငြားသော်လည်း တမန်တော်မြတ် ထုတ်ဖော်ဖွင့်ဟ ဟောကြားတော်မူခဲ့သော အသိပညာ၊ ခက်ခဲနက်နဲသော အမြော်အမြင်အားလုံးကို ထားဘိဦး၊ အချို့အဝက်ကိုပင်လျှင် သတ္တဝါတို့အနက် မည်သူတဦးတယောက်မျှ မတင်ပြနိုင်ပေ။ သို့ဖြစ်ပေရာ "အွန်မ္မီ" ဂုဏ်ပုဒ်သည် တမန်တော်မြတ်အဖို့ အထူး ဂုဏ်ယူဖွယ်ရာပင် ဖြစ်ပေသည်။

وَنَصَرُوهُ وَاتَّبَعُوا النُّورَ الَّذِي أُنزِلَ مَعَهُ أُولَٰئِكَ هُمُ الْمُفْلِحُونَ ﴿١٥٧﴾

သို့ဖြစ်ပေရာ အကြင်သူတို့သည် ထိုရစူလ်နဗီတမန်တော်မြတ်အား ယုံကြည်ခဲ့ကြလေသည်။ ၎င်းပြင် ထိုရစူလ်နဗီတမန်တော်မြတ်အား ကာကွယ်စောင့်ရှောက်ခဲ့ကြလေသည်။ ထို့မှတပါး ထိုရစူလ်နဗီတမန်တော်မြတ်အား ကူညီရိုင်းပင်းခဲ့ကြလေသည်။ ထို့ပြင် ထိုရစူလ် နဗီတမန်တော်မြတ်နှင့်အတူ ကျရောက်လာသော (ကုရ်အာန်ကျမ်းတော်မြတ်တည်းဟူသော) *လင်းရောင်ခြည်ကိုလည်း* [၁] လိုက်နာခဲ့ကြလေသည်။ ထိုသူတို့သည်သာလျှင် အောင်မြင်သောသူများ ဖြစ်ကြကုန်သတည်း။

قُلْ يَا أَيُّهَا النَّاسُ إِنِّي رَسُولُ اللَّهِ إِلَيْكُمْ جَمِيعًا الَّذِي لَهُ مُلْكُ السَّمَاوَاتِ وَالْأَرْضِ لَا إِلَٰهَ إِلَّا هُوَ يُحْيِي وَيُمِيتُ

**၁၅၈**။ (အို-နဗီတမန်တော်)အသင်သည် (လူခပ်သိမ်းတို့အား ဤသို့)ပြောကြားပါလေ။ အို-လူသားအပေါင်းတို့၊ ငါသည် ဧကန်စင်စစ် အသင်တို့အားလုံးထံ အကြင် အလ္လာဟ်အရှင်မြတ် အထံတော်မှ *စေလွှတ်ခြင်းခံရသော ရစူလ် တမန်တော်ပင်ဖြစ်ပေသည်။* [၂] မိုးကောင်းကင်များကို စိုးမိုးအုပ်ချုပ်ခြင်းသည် လည်းကောင်း၊ ပထဝီမြေကို စိုးမိုးအုပ်ချုပ်ခြင်းသည် လည်းကောင်း၊ ထိုအရှင်မြတ်၌သာလျှင် ရှိချေသည်။

---

(၁) ဤမုက္ခပါဌ်တော်တွင်ပါရှိသော နူရ်အလင်းရောင်ဟူသည် ကုရ်အာန်ကျမ်းမြတ်ကိုဆိုလိုသည် ။

ဤမုက္ခပါဌ်တော်တွင်ပါရှိသော နူရ် ဟူသည် ကုရ်အာန်ကျမ်းမြတ်ကို ဆိုသည်။ အချို့အဆိုအရ ထို နူရ် ဟူသည် တရားဓမ္မဟောကြားချက်နှင့် "ရိစာလတ်" တမန်တော်ဖြစ်မှုကို ဆိုလိုသည်။

(ကဗီရ်)

(၂) တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အရဗ်အမျိုးသားများအတွက်သာ ပွင့်တော်မူခဲ့သည် မဟုတ်။ ယဟူဒီနှင့်နဆွ်ရာနီများအတွက်သာ ပွင့်တော်မူခဲ့သည်မဟုတ်။ တမန်တော်မြတ်သည် (လူမျိုးမရွေး၊ လူတန်းစားမခွဲ၊ အုပ်စုမခြား) ကမ္ဘာ့အဝှန်းရှိ သတ္တဝါအားလုံးတို့ အကျိုးငှာ ပွင့်လာတော်မူခဲ့ခြင်းဖြစ်ပေသည်။ အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာ့အဝှန်းကို ချွင်းချက်မရှိ စိုးပိုင်တော်မူသောအရှင် ဖြစ်တော်မူ၏။ တမန်တော်မြတ်သည်လည်း ကမ္ဘာ့အဝှန်း၏အကျိုးငှာ ထိုအရှင်မြတ် စေလွှတ်တော်မူသော တမန်တော်ပင်ဖြစ်သည်။ တမန်တော်မြတ် ယူဆောင်လာသည့် တရားဒေသနာတော်များသည်လည်း ကမ္ဘာ့အဝှန်း ➢➢

فَـَٔامِنُوا۟ بِٱللَّهِ وَرَسُولِهِ ٱلنَّبِىِّ ٱلْأُمِّىِّ ٱلَّذِى يُؤْمِنُ بِٱللَّهِ وَكَلِمَـٰتِهِۦ وَٱتَّبِعُوهُ لَعَلَّكُمْ تَهْتَدُونَ ﴿١٥٨﴾

ထို အရဟင်မဌတ်မဟတပါသ ခဝပ်ကိုသကလယ်ရာ အရဟင်ဟူ၍ အလျင်သမရဟိပဌီ။ ထို အရဟင်မဌတ်သည် ပင်လျဟင် အသက်ရဟင်စေတော်မူ၏။ ထိုနည်သတူစလာ ထို အရဟင်မဌတ်သည်သာလျဟင် အသက်သေစေတော် မူ၏။ သို့ဖဌစ်ပေရာ အသင်တို့သည် အလ္လာဟ် အရဟင်မဌတ်အာသ လည်သကောင်သ၊ ထိုအရဟင်မဌတ်၏ အကဌင်စာပေမသင်ကဌာသဖူသသော ရစူလ်နဗီတမန်တော် အာသလည်သကောင်သ၊ ယုံကဌည်ကဌလေကုန်။

---

➤➤ အတလက်ပင်ဖဌစ်သည်။ အပဌည့်အစုံပင်ဖဌစ်ပေသည်။ အမဟန်ကန်ဆုံသပင် ဖဌစ်ပေသည်။ ထိုတရာသ ဒေသနာတော်မျာသကို လိုက်နာခဌင်သအာသဖဌင့်သာလျဟင် မဟန်ကန်သော တရာသဓမ္မနဟင့် နစ်ဘဝ၏အောင်မဌင်မဟုကို ရရဟိနိုင်ပေသည်။ ထိုတမန်တော်မဌတ်နဟင့် ကုရ်အာန်ကျမ်သမဌတ်အာသ ယုံကဌည်မဌတ်နိုသခဌင်သသည်ပင်လျဟင် ပလင့်လေသမျဟ သော နဗီရစူလ် တမန်တော် အပေါင်သနဟင့် ကောင်သကင်ကျ ကျမ်သဂန်အသီသသီသတို့ကို ယုံကဌည်မဌတ်နိုသရာ ရောက်ပေသည်။

<u>**မဟတ်ချက်။**</u>

တမန်တော်မဌတ် မုဟမ္မဒ်(ဆလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကမ္ဘာအဝဟန်သအတလက် ပလင့်တော်မူခဲ့သည့် အကဌောင်သ ကုရ်အာန်ကျမ်သမဌတ် (၆:၁၉။ ၂၁:၀၇။ ၂၅:၁။ ၃၄:၂၈)တလင်လည်သ မိန့်ဆိုထာသတော်မူသည်။

တမန်တော်မဌတ် မုဟမ္မဒ်(ဆလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကမ္ဘာအဝဟန်သအတလက် စေလလဟတ်တော် မူခဌင်သခံရသော တမန်တော်ဖဌစ်ကဌောင်သ “ဟဒီဆ်”တော်မျာသတလင်လည်သ အမျာသအပဌာသ တလေ့ရဟိရပေသည်။ ၀ဟုတလင် ဟဒီဆ်တော်တစ်ပုဒ်ကို ရေသသာသဖော်ပဌလိုပေသည်။

တမန်တော်မဌတ် မုဟမ္မဒ်(ဆလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က မိန့်ကဌာသတော်မူခဲ့သည်မဟာ ကျလန်ုပ်သည် ငါသခုသောအရာကို ပေသသနာသတော်မူခဌင်သခံရသည်။ ကျလန်ုပ်အလျင် တမန်တော်မျာသအနက် မည်သည့်တမန်တော် တပါသမျဟ ထိုငါသခုသောအရာကို ပေသသနာသတော်မူခဌင်သ မခံခဲ့ရပေ။

(၁)အလ္လာဟ်အရဟင်မဌတ်၏ စောင်မတော် မူခဌင်သဖဌင့် ကျလန်ုပ်၏ဘုန်သရိန်သည် တလခရီသမျဟပင် ပျံ့နဟံ့သက်ရောက်သည်။

(၂) ကမ္ဘာမဌေတခလင်လုံသသည် ကျလန်ုပ်အဖို့ “မတ်စ်ဂျစ်ဒ်” ဗလီအဖဌစ်လည်သကောင်သ၊ သန့်ရဟင်သစင်ကဌယ်စေသောအရာ အဖဌစ်လည်သကောင်သ၊ ပဌုလုပ်ထာသတော်မူသည်။ သို့ဖဌစ်ပေရာ ကျလန်ုပ်တပည့် နောက်လိုက်မျာသအနက် မည်သူမဆို ဆလာတ်ဝတ်ပဌုရန် အချိန်ကျရောက်လျဟင် ဆလာတ်ပဌုရမည်။

(၃) သုံ့ပန်သပစ္စည်သမျာသသည် ကျလန်ုပ်တို့အဖို့ ဟလာလ်ပဌုထာသတော်မူသည်။ ကျလန်ုပ်အလျင် မည်သည့် တမန်တော်အဖို့မျဟ ဟလာလ်ပဌုတော်မမူခဲ့ပေ။

(၄) ကျလန်ုပ်သည် “ရှဖာအာတ်” ပဌုခလင့် ပေသသနာသတော်မူခဌင်သခံရသည်။

(၅) နဗီတမန်တော်မျာသသည် ၎င်သတို့၏အမျိုသသာသမျာသထံသို့သာလျဟင် စေလလဟတ်ခဌင်သခံခဲ့ကဌရသည်။ ကျလန်ုပ်မဟုကာသ လူသာသအာသလုံသတို့ထံသို့ စေလလဟတ်တော်မူခဌင်သခံရသည်။ (ဗုခါရီ ၊မလ္လတ်စ်လင်မ်)

ထိုရစူလ် နဗီတမန်တော်မြတ်သည် (မိမိကိုယ်တိုင်လည်း) အလ္လာဟ် အရှင်မြတ်ကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ မုက္ခပါဠ်တော်များကိုလည်းကောင်း၊ ယုံကြည်လေသည်။ ၎င်းပြင် အသင်တို့သည် ထိုရစူလ်၊ နဗီတမန်တော်မြတ်(၏အမိန့်တော်များ)ကို လိုက်နာကြလေကုန်။ သို့မှသာလျှင် အသင်တို့သည်တရားလမ်းမှန်ကို ရရှိတန်ကြရာသည်။

وَمِنْ قَوْمِ مُوسَىٰ أُمَّةٌ يَهْدُونَ بِالْحَقِّ وَبِهِ يَعْدِلُونَ ﴿١٥٩﴾

၁၅၉။ ၎င်းပြင် (နဗီတမန်တော်)မူစာ၏ အမျိုးသားတို့တွင် လူတစုရှိသည်။ [၁] ၎င်းတို့သည် (သူတပါးတို့အားလည်း) မှန်ကန်သော တရားဓမ္မနှင့် အညီ လမ်းညွှန်ကြလေသည်။ ထို့ပြင် မိမိတို့ကိုယ်တိုင်လည်း ထိုမှန်ကန်သော တရားဓမ္မနှင့်အညီ စီရင်ဆုံးဖြတ်ကြကုန်သတည်း။

وَقَطَّعْنَاهُمُ اثْنَتَيْ عَشْرَةَ أَسْبَاطًا أُمَمًا ۚ وَأَوْحَيْنَا إِلَىٰ مُوسَىٰ إِذِ اسْتَسْقَاهُ قَوْمُهُ أَنِ اضْرِب بِّعَصَاكَ الْحَجَرَ ۖ فَانبَجَسَتْ مِنْهُ اثْنَتَا عَشْرَةَ عَيْنًا ۖ قَدْ عَلِمَ كُلُّ أُنَاسٍ مَّشْرَبَهُمْ ۚ

၁၆၀။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့အား မျိုးနွယ်ဆယ့်နှစ်သွယ်ခွဲ၍ *အုပ်စုအသီးသီး ပြုလုပ်ပေးတော်မူခဲ့လေသည်။* [၂] ၎င်းပြင် (နဗီတမန်တော်)မူစာ၏ထံသို့ ထို(နဗီတမန်တော်)မူစာ၏ အမျိုးသားတို့က (သောက်သုံးရန်)ရေကို တောင်းကြသောအခါ၊ ငါအရှင်မြတ်သည် မူစာထံသို့ (အို-မူစာ) အသင်သည် မိမိလှုင်ကန်ဖြင့် ကျောက်တုံးကို ရိုက်ခတ်လော့" ဟူ၍ အမိန့်တော် ထုတ်ပြန်တော်မူခဲ့လေသည်။ သို့(အမိန့်တော်နှင့်အညီ နဗီတမန်တော်မူစာသည် ကျောက်တုံးကို) ရိုက်ခတ်လေသည်။ ထိုကျောက်တုံးမှ စမ်းရေချောင်းဆယ့်နှစ်သွယ်တို့သည် ပန်း၍ ထွက်လာလေသည်။

---

(၁) ယဟူဒီများသည် အများအားဖြင့် မောက်မာပလွှားသူများ၊ သွေဖည်သူများ၊ မတရားသောသူများသာ ဖြစ်ကြပေသည်။ သို့တစေလည်း ၎င်းတို့တွင် သူတော်စင်များလည်းရှိကြသေးသည်။ ၎င်းတို့သည် ➤➤

وَظَلَّلْنَا عَلَيْهِمُ الْغَمَامَ وَأَنزَلْنَا عَلَيْهِمُ الْمَنَّ وَالسَّلْوَىٰ ۖ كُلُوا مِن طَيِّبَاتِ مَا رَزَقْنَاكُمْ ۚ وَمَا ظَلَمُونَا وَلَٰكِن كَانُوا أَنفُسَهُمْ يَظْلِمُونَ ﴿١٦٠﴾

(ထိုအခါ ယင်းမျိုးနွယ်တို့သည် မိမိတို့ သောက်သုံးရာဌာနကို အသီးသီး (ကောင်းမွန်စွာ) မှတ်သား၍ထားခဲ့ကြလေသည်။ ထိုမှတပါး ငါအရှင် မြတ်သည် ယင်းအမျိုးသားတို့အပေါ်၌ မိုးတိမ်များကို အရိပ်အာဝါသပြု၍ ပေးတော်မူခဲ့၏။ ထို့ပြင် ငါ အရှင်မြတ်သည် (မွတ်သိပ် ဆာလောင်ခြင်းမှ ကင်းစိမ့်သောငှာ) “မန္န” (ဟူသော စားဖွယ်)ကို လည်းကောင်း၊ “စလ်ဝါ” (ခေါ် ငုံးသတ္တဝါ)ကိုလည်း ကောင်း၊ ထိုသူတို့အပေါ်၌ ချပေးသနားတော်မူခဲ့၏။

အသင်တို့သည် ငါအရှင်မြတ် ပေးသနား တော်မူသည့် ကောင်းမြတ်သန့်စင်သော စားသုံးဖွယ် များကိုစားသုံးကြလေကုန်။ အမှန်သော်ကား ၎င်းတို့ သည် ငါအရှင်မြတ်အား ညှဉ်းပန်း နှိပ်စက်ခဲ့ကြ သည် မဟုတ်ပေ။ စင်စစ်သော်ကား ၎င်းတို့သည် မိမိတို့ကိုယ်ကို မိမိတို့သာလျှင် နှိပ်စက်ညှဉ်းပန်း ခဲ့ကြလေသတည်း။

وَإِذْ قِيلَ لَهُمُ اسْكُنُوا هَٰذِهِ الْقَرْيَةَ وَكُلُوا مِنْهَا حَيْثُ شِئْتُمْ

**၁၆၁။** ၎င်းပြင် (ပြန်လည်အောက်မေ့ သတိရကြလေ ကုန်) တရံရောအခါ ထို(နဗီတမန်တော် မူစာ၏) အမျိုးသားတို့ထံ (ဤသို့) အမိန့်တော်ကျရောက်ခဲ့လေ သည်။ အသင်တို့သည် ဤမြို့၌နေထိုင်ကြကာ ထိုမြို့ တွင်မိမိတို့နှစ်သက်ရာနေရာများမှစားသုံးကြလေကုန်။

---

➤➤ သူတပါးတို့အား တရားဓမ္မနှင့်အညီ ညွှန်ကြားပြသကြသည်။ ၎င်းတို့ကိုယ်တိုင်လည်း တရားဓမ္မနှင့်အညီ စီရင်ဆုံးဖြတ်ကြလေသည်။ ဥပမာ-သာဝကကြီး အဗ်ဒုလ္လာဟ် အီဗ်နုစလာမ်နှင့် ထိုသာဝကကြီးကဲ့သို့သော အခြားသာဝကကြီးများ၊

(၂) အလ္လာဟ်အရှင်မြတ်သည် အစ္စရာအီလီ အမျိုးသားတို့အား လွယ်ကူစွာ စီမံခန့်ခွဲ သွန်သင်ဆုံးမနိုင်ရန်အတွက် ဘိုး ၁၂-ဦးတို့၏ သားသမီးများကို မျိုးနွယ် ၁၂-သွယ်အသီးသီး ပြုပေးတော်မူ၍ မျိုးနွယ်အသီးသီးတွင် စီမံအုပ်ချုပ် သွန်သင်ဆုံးမရန်အတွက် အကြီးအကဲတစ်ဦးစီကို ခန့်ထားတော်မူခဲ့လေသည်။ ထိုသို့ အကြီးအကဲ ၁၂-ဦး ခန့်တော်မူသည့်အကြောင်း ကုရ်အာန် (၅း၁၂)တွင် မိန့်ဆိုထားတော်မူသည်။

وَقُولُوا حِطَّةٌ وَادْخُلُوا الْبَابَ سُجَّدًا نَّغْفِرْ لَكُمْ خَطِيٓـَٔاتِكُمْ ۚ سَنَزِيدُ الْمُحْسِنِينَ ﴿١٦١﴾

ငင်းပြင် အသင်တို့သည် "ဟစ်တ်တွတွန်" (ကျွန်တော်မျိုးတို့အား အပြစ်မှချမ်းသာခွင့် ပေးသနားတော်မူပါ)ဟု ရွတ်ဆိုကာ (ငါအရှင်မြတ်အား ခယရိုကျိုးသောအားဖြင့်) မြို့၏တံခါးပေါက်သို့ ဝပ်တွား၍ ဝင်ကြလေကုန်။

(အသင်တို့သည် ဤ အမိန့်တော်အတိုင်း လိုက်နာကြပါမူ ဧကန်စင်စစ်) ငါအရှင်မြတ်သည် အသင်တို့အဖို့ အသင်တို့၏ မှားယွင်းမှုများကို ခွင့်လွှတ်တော် မူသည့်ပြင် (အသင်တို့အနက်) ကောင်းမှု ပြုသူတို့ကိုမူကား ဆထက်တိုး၍ပင် ချီးမြှင့်တော်မူအံ့။

فَبَدَّلَ الَّذِينَ ظَلَمُوا مِنْهُمْ قَوْلًا غَيْرَ الَّذِي قِيلَ لَهُمْ فَأَرْسَلْنَا عَلَيْهِمْ رِجْزًا مِّنَ السَّمَآءِ بِمَا كَانُوا يَظْلِمُونَ ﴿١٦٢﴾

၁၆၂။ သို့ရာတွင် ထို(အမျိုးသား)တို့အနက် (မတရား)ကျူးလွန်(လေ့ရှိ)သူတို့သည် မိမိတို့အား မိန့်ကြားတော်မူသောစကားရပ်ကို အခြား(မလျော်ကန်သော) စကားဖြင့် ပြောင်းလဲ(၍ ပြောဆို)ခဲ့ကြလေသည်။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ထို(အမျိုးသား)တို့ အပေါ်၌ (ငင်းတို့သည်မိမိတို့ကိုယ်ကို) နှိပ်စက်ညှဉ်းပန်းလေ့ရှိခဲ့ကြသည့်အတွက် ရောဂဏ္ဍရကပ်ကို မိုးကောင်းကင်မှသက်ရောက်စေတော်မူခဲ့လေသတည်း။

وَسْـَٔلْهُمْ عَنِ الْقَرْيَةِ الَّتِي كَانَتْ حَاضِرَةَ الْبَحْرِ إِذْ يَعْدُونَ فِي

၁၆၃။ ထိုမှတပါး(အို-နဗီတမန်တော်) အသင်သည် ငင်းတို့အား သမုဒ္ဒရာပင်လယ်ဆိပ်ကမ်းရှိ *မြို့ရွာ(နေလူတို့)နှင့် ပတ်သက်၍ မေးမြန်းပါလေ။*[၁] အကြင်အခါဝယ် ထိုသူတို့သည် "စဗ်တ်" နေ့နှင့်စပ်လျဉ်း၍ စည်းကမ်းကို ကျူးလွန်ကြလေသည်။

(၁) ဤမုက္ခပါဌ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား မိမိလက်ထက်ရှိ ယဟူဒီများအား သတိသံဝေဂရစေရန်အတွက် တမန်တော် ဒါဝူဒ်(အလိုင်ဟစ္စလာမ်)၏ လက်ထက်၌ဖြစ်ပေါ်ခဲ့သော ယဟူဒီများ၏ အကြောင်းကို မေးမြန်းစေတော်မူ၏။

السَّبْتِ إِذْ تَأْتِيهِمْ حِيتَانُهُمْ يَوْمَ سَبْتِهِمْ شُرَّعًا وَيَوْمَ لَا يَسْبِتُونَ لَا تَأْتِيهِمْ كَذَٰلِكَ نَبْلُوهُم بِمَا كَانُوا يَفْسُقُونَ ﴿١٦٣﴾

အကြင်အခါဝယ် ၎င်းတို့၏ (သမုဒ္ဒရာမှ) ငါးများသည် ၎င်းတို့ထံသို့ ၎င်းတို့၏ "စဗ်တ်"နေ့တွင် (ရေပေါ်သို့) ထွက်ပြူ၍ လာကြလေသည်။ သို့ရာတွင် "စဗ်တ်"မဟုတ်သောနေ့တွင်မူ ထိုငါးများသည် ၎င်းတို့ထံသို့လာကြသည်မရှိချေ။ ထိုကဲ့သို့ပင် ငါအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့ ဖီဆန်လေ့ရှိခဲ့ကြသည့်အတွက် စမ်းသပ်တော်မူခဲ့လေသတည်း။

وَإِذْ قَالَتْ أُمَّةٌ مِّنْهُمْ لِمَ تَعِظُونَ قَوْمًا ۙ اللَّهُ مُهْلِكُهُمْ أَوْ مُعَذِّبُهُمْ عَذَابًا شَدِيدًا ۖ قَالُوا مَعْذِرَةً إِلَىٰ رَبِّكُمْ وَلَعَلَّهُمْ يَتَّقُونَ ﴿١٦٤﴾

၁၆၄။ တဖန် အကြင်အခါဝယ် ၎င်းတို့အနက်မှ လူတစုသည် (၎င်းတို့အား ဆုံးမဩဝါဒပေးသူတို့ကို) "အသင်တို့သည် အကြင်အမျိုးသားတို့အား အဘယ်ကြောင့် ဆုံးမဩဝါဒပေးလျက် ရှိကြပါသနည်း။ အလ္လာဟ်အရှင်မြတ်သည် ထိုအမျိုးသားတို့အား ပျက်စီးစေတော်မူမည်ဖြစ်သည်။ သို့မဟုတ် (ထိုအရှင်မြတ်သည်) ၎င်းတို့အား (အခြားတစ်စုံတစ်ရာ) ပြင်းထန်သောပြစ်ဒဏ်ကို ပေးတော်မူမည်ဖြစ်ချေသည်"ဟု ပြောကြားခဲ့လေသည်။ [၁]

(၁) အေလီယမြို့တွင် အထက်၌ ဖော်ပြပါရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ်၏အမိန့်တော်ကို ပရိယာယ်ဖြင့် ဆန့်ကျင်မှုများ ဖြစ်ပေါ်လာသည့်အခါ မြို့သူမြို့သားများသည် အုပ်စုအသီးသီး ကွဲသွားခဲ့ကြဟန်တူသည်။ (များသောအားဖြင့် ထိုအခြေအနေမျိုးတွင် လူများသည်လည်း ကွဲသွားကြတတ်ပေသည်)။ အေလီယမြို့သားများအနက် အုပ်စုတစ်ခုမှာ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို ပရိယာယ်ဖြင့် အတည့်အလင်း ဆန့်ကျင်ခဲ့၏။ ဒုတိယအုပ်စုမှာ ထိုသို့အမိန့်တော်ကိုဆန့်ကျင်သူတို့အား နောက်ဆုံးတိုင် သွန်သင်ဆုံးမလျက်ရှိနေခဲ့၏။ တတိယအုပ်စုမှာ အမိန့်တော်ကိုဆန့်ကျင်သူတို့အား တစ်ကြိမ်နှစ်ကြိမ်သွန်သင်ဆုံးမ၍ ဆန့်ကျင်သူများဘက်မှ မျှော်လင့်ချက်မရှိသဖြင့် လက်လျှော့နေခဲ့၏။ စတုတ္ထအုပ်စုမှာ အမိန့်တော်ကို ဆန့်ကျင်ရာတွင်လည်း မပါဝင်ခဲ့ချေ။ ၎င်းတို့နှင့်လည်း ကင်းကွာနေခဲ့၏။ အမိန့်တော်ကို ဆန့်ကျင်သူတို့အားလည်း မတားဆီးခဲ့ပေ။ ဆိတ်ဆိတ်ပင်နေခဲ့၏။

အထက်ဖော်ပြပါ အုပ်စုလေးခုအနက် တတိယနှင့်စတုတ္ထအုပ်စုတို့က ပထမအုပ်စုနှင့်ပတ်သက်၍ စိတ်ဓာတ်မလျှော့ပဲ သွန်သင်ဆုံးမလျက်ရှိသော ဒုတိယအုပ်စုအား "အသင်တို့သည် ဤသို့သော သူယုတ်တို့ကို ဦးနှောက်အခြောက်ခံ၍ အဘယ်ကြောင့် သွန်သင်ဆုံးမ ဟောပြောနေကြသနည်း။ ထိုသူယုတ်တို့သည် အသင်တို့၏ သွန်သင်ဆုံးမချက်များကို လက်ခံနာယူကြလိမ့်မည်ဟု ကျွန်ုပ်တို့ မမျှော်လင့်ပါ။ ထိုသူယုတ်တို့နှင့် ပတ်သက်၍ သိရှိရသည်မှာ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား လုံးဝ ဖျက်ဆီးပစ်တော်မူလိမ့်မည်။ ➤➤

(ထိုအခါ) ထို (ဆုံးမသြဝါဒစကား ပြောကြားနေသူတို့က(ကျွန်ုပ်တို့သည်) အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်တွင် အပြစ်လွတ်ရာလွတ်ကြောင်း ဖြစ်စေခြင်းငှာလည်းကောင်း၊ ထို(ဆုံးမသြဝါဒစကား ပြောခြင်းခံကြရသော)သူတို့သည် အပြစ်မှ ကြဉ်ရှောင်ကြမည်ကို မျှော်လင့်၍လည်းကောင်း၊ (ဆုံးမသြဝါဒ ပေးခြင်းပင်ဖြစ်သည်) ဟူ၍ ဖြေကြားကြလေသတည်း။

فَلَمَّا نَسُوا مَا ذُكِّرُوا بِهِ أَنْجَيْنَا الَّذِينَ يَنْهَوْنَ عَنِ السُّوءِ وَأَخَذْنَا الَّذِينَ ظَلَمُوا بِعَذَابٍ بَئِيسٍ بِمَا كَانُوا يَفْسُقُونَ ﴿١٦٥﴾

**၁၆၅။** တဖန် ထိုသူတို့သည် မိမိတို့သတိပေးခြင်းခံကြရသော အမှုကိစ္စကို မေ့လျော့ပင်ရှိကြလေသော အခါ ငါအရှင်မြတ်သည် မကောင်းမှုတို့မှ မြစ်တားလျက်ရှိကြသူတို့အား ကယ်ဆယ်တော်မူ၍ မတရားကျူးလွန်သောသူတို့ကိုမူ ၎င်းတို့သည် သွေဖည်လျက်ရှိခဲ့ကြသောကြောင့် ပြင်းထန်သော ပြစ်ဒဏ်ဖြင့် ဖမ်းဆီးတော်မူခဲ့လေသတည်း။ [၁]

➤➤ သို့တည်းမဟုတ် ကြီးလေးသော ပြစ်ဒဏ်ကို ခတ်တော်မူလိမ့်မည်ဟု ပြောကြလေသည်။ ထိုအခါ ဒုတိယအုပ်စုက ကျွန်ုပ်တို့ ဤသို့ဟောပြောနေခြင်းဖြင့် ထိုသူယုတ်တို့သည် နောင်တရကာ ပြစ်မှုများကို ရှောင်ကြဉ်ကောင်း ရှောင်ကြဉ် သွားကြလိမ့်မည်။ သို့တည်းမဟုတ် ကျွန်ုပ်တို့သည် အလ္လာဟ် အရှင်မြတ်၏ အထံတော်တွင် ကျွန်တော်မျိုးတို့သည် ထို သူယုတ်မာတို့အား နောက်ဆုံး အချိန်အထိ စိတ်ဓာတ် မလျှော့ပဲ သွန်သင် ဆုံးမ ခဲ့ကြပါသည်။ ကျွန်တော်မျိုးတို့ သွန်သင် ဆုံးမရာတွင် တာဝန်မပျက်ကွက်ခဲ့ကြပါ။ နားမထောင်ခြင်းမှာ ထိုသူယုတ်တို့၏ တာဝန်သာဖြစ်ပါသည်ဟု လျှောက်ထားနိုင်ကြမည် ဖြစ်ကြောင်း ဖြေကြားကြလေသည်။

(၁) သူယုတ်မာများသည် တရားဒေသနာတော်များကို လုံးဝ မကြားဘိအလား မေ့ပျောက်ပစ်လိုက်ကြသောအခါ အလ္လာဟ်အရှင်မြတ်သည် တရားဓမ္မသွန်သင် ဆုံးမသြဝါဒပေးသော သူတော်စင်တို့အား ကယ်ဆယ်တော်မူ၍ စည်းကမ်းကျူးလွန်သော သူယုတ်မာတို့အား ပြင်းထန်သောပြစ်ဒဏ်ကို ခတ်တော်မူလိုက်လေသည်။

မကောင်းမှုမြစ်တားသော သူတော်စင်များတွင် အထက်ပါအောက်ခြေအမှတ်၌ ဖော်ပြပါရှိသည့် ဒုတိယအုပ်စုနှင့်တတိယအုပ်စုများ အပါအဝင် ဖြစ်ကြပေသည်။ အပြစ်မှလွတ်မြောက်ကြသည်။ စည်းကမ်းကျူးလွန်သော ပထမအုပ်စုသည်သာလျှင် အပြစ်ဒဏ်တပ်ရိုက်ခြင်း ခံကြရပေသည်။ ဤအတိုင်းပင် အစ်က္ကရိမဟ်ထံမှတဆင့် ကြားသိရသည်။ အစမှအဆုံးတိုင် တိတ်ဆိတ်နေခဲ့ကြသော စတုတ္ထအုပ်စုအကြောင်းနှင့်ပတ်သက်၍ အလ္လာဟ် အရှင်မြတ်သည်လည်း မည်သို့မျှ မိန့်ဆိုထားတော်မူသည်မရှိပေ။

فَلَمَّا عَتَوْا عَن مَّا نُهُوا عَنْهُ
قُلْنَا لَهُمْ كُونُوا قِرَدَةً
خَاسِئِينَ ﴿١٦٦﴾

**၁၆၆**။ သို့ဖြစ်ပေရာ ထိုသူတို့သည် မိမိတို့ မြစ်တားခြင်းခံခဲ့ကြရသော အမှုကိစ္စနှင့်စပ်လျဉ်း၍ စည်းကမ်းကို ကျူးလွန်ခဲ့ကြသောအခါ ငါအရှင်မြတ်သည် ၎င်းတို့အား "အသင်တို့သည် ယုတ်ညံ့သိမ်ဖျင်းသော မျောက်တိရစ္ဆာန်များ ဖြစ်ကြလော့"ဟူ၍ မိန့်ကြားတော်မူခဲ့လေသတည်း။

وَإِذْ تَأَذَّنَ رَبُّكَ لَيَبْعَثَنَّ
عَلَيْهِمْ إِلَىٰ يَوْمِ الْقِيَامَةِ مَن
يَسُومُهُمْ سُوءَ الْعَذَابِ ۗ إِنَّ
رَبَّكَ لَسَرِيعُ الْعِقَابِ ۖ وَإِنَّهُ
لَغَفُورٌ رَّحِيمٌ ﴿١٦٧﴾

**၁၆၇**။ ၎င်းပြင် (အို-နဗီတမန်တော်၊ အသင်သည် ပြန်လည်သတိရပါလေ)။ အခါတပါး၌ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် (ဤသို့)ကြေငြာတော်မူခဲ့လေသည်။ ထိုအရှင်မြတ်သည် ၎င်းတို့အပေါ်၌အကြင်ကဲ့သို့သောသူများကို ကိယာမတ်နေ့တိုင်အောင် မလွဲဧကန် လွှမ်းမိုးစေတော်မူအံ့။ ထိုသူများသည် ပြင်းထန်လှသောပြစ်ဒဏ်ကို ၎င်းတို့၌ သက်ရောက်ကြစေအံ့။ ဧကန်မလွဲ အသင့်အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်သည် အလွန်လျင်မြန်စွာ အပြစ်ပေးတော်မူသောအရှင်ဖြစ်တော်မူပေသည်။ ၎င်းပြင် ထိုအရှင်မြတ်သည် မုချစင်စစ် အလွန်ချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ အလွန်သနားကြင်နာညှာတာတော်မူသောအရှင်မြတ် ဖြစ်တော်မူသတည်း။

وَقَطَّعْنَاهُمْ فِي الْأَرْضِ أُمَمًا ۖ
مِّنْهُمُ الصَّالِحُونَ وَمِنْهُمْ

**၁၆၈**။ ထိုမှတပါး ငါအရှင်မြတ်သည် ၎င်းတို့အား ကမ္ဘာမြေဝယ် *အုပ်စု (အမျိုးမျိုး) ကွဲပြားစေတော်မူခဲ့လေသည်။* [၁] ၎င်းတို့အနက်အချို့သည် သူတော်ကောင်းများ ဖြစ်ကြသည်။

---

(၁) အလ္လာဟ်အရှင်မြတ်သည် ယင်းယဟူဒီများအား ကမ္ဘာမြေပြင်တွင် အုပ်စုအမျိုးမျိုး ကွဲပြားစေတော် မူခဲ့လေသည်။ ယနေ့လည်း ယဟူဒီများသည် တစုတရုံးတည်း မနေနိုင်ကြပဲ ကမ္ဘာ အရပ်ရပ်တွင် အနှံ့အပြား ကစဉ့်ကလျားဖြစ်နေကြသည်မှာ အထင်အရှားပင် ဖြစ်ပေသည်။

دُونَ ذَٰلِكَ وَبَلَوْنَٰهُم بِالْحَسَنَٰتِ وَالسَّيِّـَٔاتِ لَعَلَّهُمْ يَرْجِعُونَ ﴿١٦٨﴾

ထို့ပြင်ငင်းတို့တွင် ထို(သူတော်စင်များ)မှတပါး သောသူများလည်းရှိခဲ့ကြ၏။ ငင်းပြင် ငါအရှင်မြတ်သည် သုခချမ်းသာများ(ကို ချီးမြှင့် ပေးသနားတော်မူခြင်း အား)ဖြင့်လည်းကောင်း၊ ဆင်းရဲဒုက္ခများ (သက်ရောက်စေခြင်းအား)ဖြင့်လည်းကောင်း၊ စမ်းသပ်တော်မူခဲ့လေသည်။ သို့မှသာလျှင် ငင်းတို့သည် (မိမိတို့၏သွေဖည်မှုများမှ) ပြန်လှည့်လာကြတန်ရာသည်။

فَخَلَفَ مِنۢ بَعْدِهِمْ خَلْفٌ وَرِثُوا۟ الْكِتَٰبَ يَأْخُذُونَ عَرَضَ هَٰذَا الْأَدْنَىٰ وَيَقُولُونَ سَيُغْفَرُ لَنَا وَإِن يَأْتِهِمْ عَرَضٌ مِّثْلُهُۥ يَأْخُذُوهُ ۚ أَلَمْ يُؤْخَذْ عَلَيْهِم مِّيثَٰقُ الْكِتَٰبِ أَن لَّا يَقُولُوا۟ عَلَى اللَّهِ إِلَّا الْحَقَّ وَدَرَسُوا۟ مَا فِيهِ ۗ وَالدَّارُ الْءَاخِرَةُ خَيْرٌ لِّلَّذِينَ يَتَّقُونَ ۗ أَفَلَا تَعْقِلُونَ ﴿١٦٩﴾

**၁၆၉။** တဖန် ငင်းတို့မရှိသည့်နောက်တွင် အကြင်ယုတ်မာသော သားမြေးတို့က (ငင်းတို့၏)ရိုက်ရာဆက်ခံခဲ့ကြကုန်၏။ ထိုသူတို့သည် ကျမ်းဂန်ကို အမွေရယူခဲ့ကြကုန်၏။ (သို့ရာတွင်) ငင်းတို့သည် (ထိုကျမ်းဂန်လာ ဒေသနာတော်များ၏အစား) ဤလောကီပစ္စည်းများကို ယူကြလေသည်။ ထို့ပြင် ငင်းတို့က ကျွန်ုပ်တို့သည် (ဤ ကျမ်းဂန်လာ ဒေသနာတော်များကို ရောင်းစားခဲ့ကြသည့်အပြစ်မှ) မုချချမ်းသာခွင့် ပေးသနားတော်မူခြင်းခံကြရပေမည်ဟူ၍လည်း ပြောဆိုကြသေး၏။ စင်စစ်သော်ကား ငင်းတို့သည် အကယ်၍ (ယခုတဖန်) ထိုကဲ့သို့သော ဥစ္စာပစ္စည်းများသည် ငင်းတို့ထံရောက်လာပါလျှင် ထိုပစ္စည်းများကို ယူကြဦးမည်သာတည်း။

(တောင်ရာတ်)ကျမ်းတော်တွင် ငင်းတို့သည် အလ္လာဟ်အရှင်မြတ်အပေါ်၌ မှန်ရာကိုသာပြောဆိုကြရန် ငင်းတို့ထံမှ ပဋိညာဉ်ယူထားပြီးဖြစ်သည်သာမက ငင်းတို့သည် ယင်းကျမ်းဂန်လာ အမိန့်တော်များကို ဖတ်ခဲ့ပြီးလည်းဖြစ်ကြသည်။ စင်စစ်သော်ကား နောင်တမလွန်ဘဝ၏ သုခချမ်းသာသည် (အလ္လာဟ်အရှင်မြတ်အား) ကြောက်ရွံ့ရှိသေသော(အားဖြင့်

ပြစ်မှုဒုစရိုက်များမှကြဉ်ရှောင်ကြကုန်သော)သူတို့အဖို့ အကောင်းဆုံးပင် ဖြစ်ပေသည်။ သို့ပါလျက် အသင်တို့သည် (ဤမျှပင်) မသိနားမလည်ကြလေသလော။

**၁၇၀။** အကြင်သူတို့သည် ကျမ်းဂန် ဒေသနာတော်ကို ¹ တည်ကြည်စွဲမြဲစွာ စောင့်ထိန်းကြ၏။ ၎င်းပြင် "ဆွလာတ်" ဝတ်ပြုခြင်းကိုလည်း အမြဲမပြတ် ဆောက်တည်ကြ၏။ ကေန်စင်စစ် ငါအရှင်မြတ်သည် (မိမိတို့ကိုယ်ကို) ပြုပြင်ကြကုန်သော သူတို့၏ အကျိုးကျေးဇူးကို ပျက်စီးစေတော်မူမည် မဟုတ်ပေ။

وَالَّذِيْنَ يُمَسِّكُوْنَ بِالْكِتٰبِ وَاَقَامُوا الصَّلٰوةَ ؕ اِنَّا لَا نُضِيْعُ اَجْرَ الْمُصْلِحِيْنَ ﴿١٧٠﴾

**၁၇၁။** ၎င်းပြင် (အိုး–နဗီတမန်တော်၊ အသင်သည် ပြန်လည်၍ သတိရပါလေ) တရံသောအခါ ငါအရှင်မြတ်သည် (တူရ်မည်သော)တောင်ကို ၎င်းတို့ ထက်ဝယ် ပင့်မြှောက်တော်မူခဲ့ရာ ထိုတောင်သည် အမိုးကဲ့သို့ဖြစ်လျက် ရှိခဲ့ချေသည်။ ထို့ပြင် ယင်းသူတို့မှာ ထိုတောင်သည် ၎င်းတို့အပေါ်ဝယ် မုချ ကျတော့မည်ဟူ၍ ယုံကြည်ခဲ့ကြလေသည်။ (ထိုအခါ ငါအရှင်မြတ်သည် ၎င်းတို့အား ဤသို့ မိန့်တော်မူခဲ့လေသည်။) အသင်တို့သည် မိမိတို့အား ငါအရှင်မြတ် ချီးမြှင့်ပေးသနားတော်မူသော ကျမ်းမြတ်ကို စွဲမြဲစွာ လက်ကိုင်ထားကြလေကုန်။ ၎င်းနောက် အသင်တို့သည် (ပြစ်မှုဒုစရိုက်များမှ) ကြဉ်ရှောင်နိုင်ခြင်းငှာ ယင်းကျမ်းတော်လာ ဒေသနာတော်များကိုလည်း လေ့ကျင့်မှတ်သား (ကျင့်မှု)ကြလေကုန်။

وَاِذْ نَتَقْنَا الْجَبَلَ فَوْقَهُمْ كَاَنَّهٗ ظُلَّةٌ وَّظَنُّوْۤا اَنَّهٗ وَاقِعٌۢ بِهِمْ ۚ خُذُوْا مَاۤ اٰتَيْنٰكُمْ بِقُوَّةٍ وَّاذْكُرُوْا مَا فِيْهِ لَعَلَّكُمْ تَتَّقُوْنَ ﴿١٧١﴾

① ဤမုက္ခပါဠ်တော်တွင် ပါရှိသော "အလ်ကိတာဗ်"ဟူသည် တောင်ရာတ်ကျမ်းမြတ်ကိုသာ ဆိုလိုသည်။ ကြည့်–ကုရ်တုဗီ၊ မာဂျိဒီ၊ ထာနဝီ။

ယဟူဒီများအနက် အချို့ပုဂ္ဂိုလ်များသည် တောင်ရာတ်ကျမ်းမြတ်လာ အမိန့်ပညတ်တော်များကို စွဲမြဲစွာ လိုက်နာကျင့်သုံးကြသည်။ ထိုကျမ်းမြတ်တွင် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ယုံကြည်ရန် အမိန့်တော်လည်းပါရှိပေရာ ၎င်းတို့သည် တမန်တော်မြတ်အားလည်း ယုံကြည်ကြသည်။ ➤➤

وَإِذْ أَخَذَ رَبُّكَ مِنْ بَنِيٓ ءَادَمَ مِن ظُهُورِهِمْ ذُرِّيَّتَهُمْ وَأَشْهَدَهُمْ عَلَىٰٓ أَنفُسِهِمْ أَلَسْتُ بِرَبِّكُمْ ۖ قَالُوا۟ بَلَىٰ ۛ شَهِدْنَآ ۛ أَن تَقُولُوا۟ يَوْمَ ٱلْقِيَٰمَةِ إِنَّا كُنَّا عَنْ هَٰذَا غَٰفِلِينَ ﴿١٧٢﴾

၁၇၂။ ထိုမှတပါး (အို-နဗီတမန်တော် အသင်သည် ပြန်လည်အောက်မေ့သတိရပါလေ။) အခါတပါးတွင် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အာဒမ်၏သားမြေးတို့၏ ကျောက်ကုန်းမှ ၎င်းတို့၏ သားမြေးတို့ကို ထုတ်ဆောင်တော်မူခဲ့လေသည်။ ထို့နောက် ထိုအရှင်မြတ်သည် ၎င်းတို့ကိုပင် ၎င်းတို့ အပေါ်၌သက်သေထားတော်မူ၍ "ငါအရှင်မြတ်သည် အသင်တို့အား ဖန်ဆင်းတော်မူသောအရှင်မြတ်ပင် မဟုတ်ပါလော" ဟုမိန့်ကြားတော်မူခဲ့လေသည်။ [၁]

ထိုအခါ ၎င်းတို့က "အမှန်ပင်ဟုတ်ပါသည်၊ *ကျွန်တော်မျိုးတို့ကိုယ်တိုင်သက်သေခံကြပါသည်*" [၂] ဟု လျှောက်ထား (ဝန်ခံ)ခဲ့ကြကုန်၏။ (ယင်းသို့ သက်သေထားတော်မူခဲ့ခြင်းမှာ) အသင်တို့သည် ကိယာမတ်ခေါ် ရှင်ပြန်ထမည့်နေ့တွင် "ကျွန်တော်မျိုးတို့သည် ဤသည်ကို မသိခဲ့ကြပါ" ဟု မပြောကြရန်ပင် ဖြစ်သည်။

---

➤➤ ၎င်းတို့သည် ကာယကံအားဖြင့်လည်း ဆွလာတ်ဝတ်ပြုကြ၏။ ထိုသို့သော သူတော်စင်များသည် မိမိတို့၏ ကုသိုလ်အကျိုးများကို မုချရရှိကြပေမည်။ ကြည့်-ထာနဝီ။

ကျမ်းဂန်လာ အမိန့်ပညတ်တော်များကို လိုက်နာကျင့်သုံးခြင်းတွင် ဆွလာတ်သည် အကျုံးဝင်ပြီး ဖြစ်ပါလျက် သီးခြားထုတ်ဖော် မိန့်ဆိုထားတော်မူခြင်းမှာ ဆွလာတ်၏အရေးကြီးမှုကို ထင်ရှားစေရန်ဖြစ်သည်။

(၁) ဤမုက္ခပါဌ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် နာမ်လောက၏ အဖြစ်အပျက်တစ်ရပ်ကို မိန့်ဆိုထားတော်မူသည်။ အထက်တွင် အစ္စရာအီလီအမျိုးသားတို့ထံမှ တောင်ဟီဒ်နှင့်ပတ်သက်၍ ပဋိညာဉ်ယူထားတော်မူသည့် အကြောင်းပါရှိသည်။ အလျင်ကလည်း ၎င်းတို့အား တောင်ဟီဒ်နှင့်ပတ်သက်သည့် ပဋိညာဉ်တော်ကို အကြိမ်ကြိမ် သတိပေးပြီးဖြစ်သည်။ အမှန်မှာ အလ္လာဟ်အရှင်မြတ်သည် တောင်ဟီဒ်နှင့်ပတ်သက်သည့် ပဋိညာဉ်တော်ကို အစ္စရာအီလီမျိုးနွယ်ထံမှသာ ယူထားတော်မူသည်မဟုတ်။ လူသားအားလုံးတို့ထံမှ ယူထားတော်မူပြီးဖြစ်သည်။

တဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကိုးကွယ်မှုသည် လူ့သဘာဝနှင့် လူ့ဗီဇ၌ စွဲမြဲလျက်ရှိသည်။ အကယ်၍ လူ့သဘာဝသည် ပုံပန်းသဏ္ဍာန်မပျက်စီးပဲ နဂိုမူလအတိုင်း တည်ရှိနေပါသော် ယင်းသဘာဝသည် မိမိအားဖန်ဆင်းတော်မူသော အာဟာရပေးတော်မူသော မွေးမြူတော်မူသော အရှင်တပါး ရှိကြောင်း ဝန်ခံမည်သာဖြစ်သည်။

أَوْ تَقُولُوٓا۟ إِنَّمَآ أَشْرَكَ ءَابَآؤُنَا مِن قَبْلُ وَكُنَّا ذُرِّيَّةً مِّنۢ بَعْدِهِمْ ۖ أَفَتُهْلِكُنَا بِمَا فَعَلَ ٱلْمُبْطِلُونَ ﴿١٧٣﴾

၁၇၃။ သို့တည်းမဟုတ် အသင်တို့သည် "ကျွန်တော်မျိုးတို့၏ဘ၊ ဘိုးဘေးဘီဘင်တို့မှာ ရှေးဦးမဆွကပင် အခြားအရာများကို အလ္လာဟ်အရှင်မြတ်နှင့်တွဲဖက်ကိုးကွယ်ခဲ့ကြပါသည်သာတည်း။ ကျွန်တော်မျိုးတို့မှာမူကား ၎င်းတို့၏နောက်တွင် *(၎င်းတို့၏)သားမြေးများသာ ဖြစ်ကြပါသည်။* [၁] သို့ဖြစ်ရာ အရှင်မြတ်သည် (ရှေးဦးမဆွက) မဟုတ်မမှန် ပြုလုပ်ခဲ့ကြသောသူတို့ကြောင့် ကျွန်တော်မျိုးတို့အား ပျက်စီးစေတော်မူပါမည်လော" ဟု ပြောဆိုကြလတ္တံ့။ [၂]

---

(၂) ဤမုက္ခပါဌ်တော်တွင် ပါရှိသော "ရှဟစ်ဒ်နာ" ဟူသော စကားသည် မည်သူ၏စကားနည်း။ ဤတွင် အဆိုပြားလျက်ရှိသည်။ အချို့က ယင်းစကားသည် လူသားတို့ ဝန်ခံပြောဆိုသော စကားဖြစ်သည်ဟု ဆိုကြသည်။ အချို့ကမူ ယင်းစကားသည် အလ္လာဟ်အရှင်မြတ်၏ မုက္ခပါဌ်တော်ဖြစ်သည်ဟု ဆိုကြသည်

"ရှဟစ်ဒ်နာ"သည် လူသားတို့က ဆိုသောစကားဖြစ်သည်။ (ကဗီရ်)

"ရှဟစ်ဒ်နာ" သည် လူသားတို့က ဆိုသောစကားဖြစ်သည်။ ဤသည် သာဝကကြီး အီဗ်နုအဗ္ဗာစ်နှင့် အုဗိုင်ယ်အီဗ်နုကအ်ဗ်တို့၏ အဆိုတည်း။ (ကုရ်တုဗီ)

အခြားအဆိုတစ်ရပ်အရ ယင်း "ရှဟစ်ဒ်နာ"သည် အလ္လာဟ်အရှင်မြတ်နှင့် ကောင်းကင်တမန်များ၏ စကားဖြစ်သည်။ အလိုသဘောမှာ (အို-လူသားအပေါင်းတို့) ငါတို့သည် အသင်တို့၏ ဝန်ခံချက်အပေါ်၌ သက်သေများ ဖြစ်ကြသည်ဟူ၏။ ဤသည် အဗူမာလစ်ကဲ၏အဆိုဖြစ်သည်။ ဤသို့သော အလားတူ အဆိုကို စုဒီထံမှလည်း ကြားသိရသည်။ (ကုရ်တုဗီ)

(၁) ဤမုက္ခပါဌ်တော်၏ အလိုသဘောမှာ လူသားတို့က "မူလအစ၊ ရှရ်စ်ကဲပြုလုပ်သူများမှာ ကျွန်တော်မျိုးတို့၏ အကြီးအကဲ ဘိုးဘေးတို့သာ ဖြစ်ခဲ့ကြပါသည်။ ကျွန်တော်မျိုးတို့သည် ၎င်းတို့၏နောက် ၎င်းတို့၏ အဆက်အနွယ်မှ ပေါက်ဖွားလာကြသော သားမြေးမြစ်တို့သာ ဖြစ်ကြပါသည်။ သားမြေးမြစ်တို့သည် များသောအားဖြင့် အတွေးအခေါ် အမြော်အမြင် အယူအဆများတွင် မိမိတို့ဘိုးဘေးဘီဘင်တို့၏ နောက်လိုက်များသာဖြစ်ကြပါသည်။ ထို့အတွက် ကျွန်တော်မျိုးတို့၌ အပြစ်တစ်စုံတစ်ရာမရှိပါ။ ကျွန်တော်မျိုးတို့၏ အပြုအမူများနှင့်ပတ်သက်၍ အပြစ်ဒဏ်လည်း မသင့်နိုင်ပါ။ အကယ်၍ ကျွန်တော်မျိုးတို့သည် မိမိတို့၏အပြုအမူများနှင့် ပတ်သက်၍ အပြစ်ဒဏ်ပေးခြင်း ခံခဲ့ကြရသည်ရှိသော် ထိုဘိုးဘေးတို့၏အပြစ်ကြောင့် ကျွန်တော်မျိုးတို့အား အပြစ်ဒဏ်ပေးရာ ရောက်ပါသည်"ဟု စောဒနာတက်ကြမည်။ သို့ရာတွင် အလ္လာဟ် အရှင်မြတ်သည် အထက်တွင် ပါရှိခဲ့သည့်အတိုင်း လူသားထုကြီး တရပ်လုံးထံမှ ပဋိညာဉ်တော်ယူပြီးလည်းဖြစ်သည်။ လူသားထုကြီးတစ်ရပ်လုံးကလည်း ထိုပဋိညာဉ် တော်ကို ဝန်ခံပြီးလည်းဖြစ်သည်။ ထို့ပြင်တဝ ပွင့်လေသမျှသော နဗီတမန်တော်များကလည်း ထိုပဋိညာဉ်တော်ကို အသီးသီး သတိပေးသွားပြီးလည်းဖြစ်၏။ သို့ဖြစ်ပေရာ ထိုပဋိညာဉ်တော်နှင့်ပတ်သက်၍ စောဒနာတက်ရန်အကြောင်း အလျင်းမရှိတော့ပေ။ (ထာနဝီ)

وَكَذٰلِكَ نُفَصِّلُ الْاٰيٰتِ وَلَعَلَّهُمْ يَرْجِعُوْنَ ﴿١٧٤﴾

၁၇၄။ အမှန်သော်ကား ငါအရှင်မြတ်သည် ၎င်းတို့ (မှန်ကန်သော"ဒီန်"သာသနာဘက်သို့)ပြန်လှည့်ကြရန် အလို့ငှာသက်သေလက္ခဏာများကိုဤနည်းအတိုင်းပင် ရှင်းလင်းစွာထုတ်ဖော်မိန့်ကြားတော်မူလေသတည်း။

وَاتْلُ عَلَيْهِمْ نَبَاَ الَّذِيْۤ اٰتَيْنٰهُ اٰيٰتِنَا فَانْسَلَخَ مِنْهَا فَاَتْبَعَهُ الشَّيْطٰنُ فَكَانَ مِنَ الْغٰوِيْنَ ﴿١٧٥﴾

၁၇၅။ ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် ထိုသူတို့ရှေ့ဝယ် အကြင်သူ၏အကြောင်းကို ဖတ်ကြားပါလေ။ ငါအရှင်မြတ်သည် ထိုသူအား မိမိသက်သေလက္ခဏာများ (ဝါ) အမိန့်ပညတ်တော်များ၏ အသိပညာကို ချီးမြှင့်ပေးသနားတော်မူခဲ့လေသည်။ တဖန် ထိုသူသည် ယင်းသက်သေလက္ခဏာများကိုစွန့်၍ ထွက်သွားခဲ့လေသည်။ သို့ဖြစ်ရာ "ရှိုင်တွာန်" မိစ္ဆာကောင်သည် ၎င်း၏နောက်သို့ လိုက်ပါခဲ့လေသည်။ ထို့နောက် ၎င်းသည် လမ်းမှားသူတို့တွင် အပါအဝင် ဖြစ်ခဲ့လေသတည်း။

وَلَوْ شِئْنَا لَرَفَعْنٰهُ بِهَا وَلٰكِنَّهٗۤ اَخْلَدَ اِلَى الْاَرْضِ وَاتَّبَعَ هَوٰىهُ ۚ فَمَثَلُهٗ كَمَثَلِ الْكَلْبِ ۚ اِنْ تَحْمِلْ عَلَيْهِ

၁၇၆။ စင်စစ်တမူကား ငါအရှင်မြတ်သည် အကယ်၍သာ အလိုရှိတော်မူခဲ့ပါလျှင် ထိုသူအား ယင်းသက်သေလက္ခဏာများ(နှင့်အညီ လိုက်နာကျင့်သုံးခြင်းအား)ဖြင့် ဂုဏ်အင် ချီးမြှင့်တော်မူပြီးဖြစ်အံ့။ သို့ရာတွင် ထိုသူအား ကမ္ဘာမြေ(ဝါ)လောကီစည်းစိမ်ဘက်သို့ ယိမ်းညွှတ်၍ပါသွားကာ မိမိစိတ်အလိုဆန္ဒကို လိုက်စားခဲ့လေသည်။

---

(J) လူသားတို့၏မူလအစ ဘာသာသာသနာသည် "တောင်ဟီဒ်" ပင်ဖြစ်ကြောင်း "ရှစ်ရ်စ်က်" သည် ခေတ်အတန်ကြာသောအခါမှ လူသားတို့ အမှားမှားအယွင်းယွင်း ပြုလုပ်ဖန်တီးထားသော အမှားဝါဒမျှသာဖြစ်ကြောင်း၊ ဤမုက္ခပါဠ်တော်တွင် အတည့်အလင်း မိန့်ဆိုထားတော်မူသည်။ ယခင်နှစ်အတော်ကြာက အနောက်နိုင်ငံသား ပညာရှင်များက "လူသားတို့၏မူလအစ ဘာသာသာသနာသည် ရှရ်စ်က်ဖြစ်ခဲ့သည်။ ထို့နောက် အတန်ကြာသော အခါကျမှ လူသားတို့သည် တဖြည်းဖြည်း "တောင်ဟီဒ်ကို သိရှိလာခဲ့ကြသည်" ဟု ဆိုကြသည်။ သို့ရာတွင် ယခုမူ ထိုအနောက်နိုင်ငံသား ပညာရှင်များအနက် Eths Logists တို့သည် အမြင်မှန်ရကာ လူသားတို့၏ မူလအစဘာသာသာသနာသည် တောင်ဟီဒ်ပင်ဖြစ်သည်ဟု အတည့်အလင်းဝန်ခံရေးသားလာကြလေပြီ။ (မာဂျိဒီ)

يَلْهَثْ أَوْ تَتْرُكْهُ يَلْهَثْ ۚ ذَٰلِكَ مَثَلُ الْقَوْمِ الَّذِينَ كَذَّبُوا بِآيَاتِنَا ۚ فَاقْصُصِ الْقَصَصَ لَعَلَّهُمْ يَتَفَكَّرُونَ ﴿١٧٦﴾

သို့ဖြစ်ပေရာ ၎င်း၏ ဥပမာကား ခွေး၏ ဥပမာကဲ့သို့ ဖြစ်ခဲ့လေသည်။ အသင်သည် ထိုခွေးအား အကယ်၍ တိုက်ခိုက်လျှင်လည်း ထိုခွေးသည် မောဟိုက်၍ လျှာထုတ်နေမည်။

သို့မဟုတ်အသင်သည်ထိုခွေးအား အကယ်၍ လွှတ်ထားလျှင်လည်း မောဟိုက်၍လျှာထုတ်နေမည် သာဖြစ်ချေသည်။ ဤသည်ကား ငါအရှင်မြတ်၏ သက်သေလက္ခဏာများကို မဟုတ်မမှန်ဟု ငြင်းပယ်သောသူတို့၏ဥပမာပင်။ သို့ဖြစ်ပေရာ အသင်သည် ၎င်းတို့ ဆင်ခြင်သုံးသပ်၊ ချင့်ချိန်စဉ်းစားနိုင်ခြင်းငှာ (ဤ)အကြောင်းအတ္ထုပ္ပတ္တိများကို (ရေလည်အောင်) ပြော၍ပြပါလေ။

سَاءَ مَثَلًا الْقَوْمُ الَّذِينَ كَذَّبُوا بِآيَاتِنَا وَأَنفُسَهُمْ كَانُوا يَظْلِمُونَ ﴿١٧٧﴾

**၁၇၇။** အကြင်သူတို့၏ *ဥပမာကား* ဆိုးယုတ်လှပေ၏။ [၁] ထိုသူတို့သည် ငါအရှင်မြတ်၏ သက်သေလက္ခဏာတော်များကို မဟုတ်မမှန်ဟု ငြင်းပယ်ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် မိမိတို့ကိုယ်ကို သာလျှင် မိမိတို့နှိပ်စက်ညှဉ်းပန်းလျက် ရှိခဲ့ကြကုန်၏။

مَن يَهْدِ اللَّهُ فَهُوَ الْمُهْتَدِي ۖ وَمَن يُضْلِلْ فَأُولَٰئِكَ هُمُ الْخَاسِرُونَ ﴿١٧٨﴾

**၁၇၈။** အကြင်သူအား အလ္လာဟ်အရှင်မြတ်သည် တရားလမ်းမှန်ကို ညွှန်ပြတော်မူအံ့။ ထိုသူသာလျှင် တရားလမ်းမှန်ကို ရရှိသူဖြစ်အံ့။ သို့ရာတွင် အကြင်သူအား ထိုအရှင်မြတ်သည် လမ်းမှားသို့ရောက်စေတော်မူအံ့။ ထို(ကဲ့သို့) သူတို့သည်သာလျှင် နစ်နာဆုံးရှုံးမည့်သူများ *ဖြစ်ကြလတ္တံ့။* [၂]

---

(၁) မုရှိရစ်က်၊ ကာဖိရ်စသော လမ်းမှားသူတို့၏ အယူဝါဒများကို ကုရ်အာန်ကျမ်းမြတ်တွင် နေရာအမြောက်အမြား၌ ပင့်ကူအိမ်၊ ယင်ကောင်စသည့် သေးနုပ်လှသော အကောင်များနှင့် ပုံနှိုင်း၍ မိန့်ဆိုထားတော်မူသည်။ သို့ရာတွင် အထက်တွင်လာရှိသည့်အတိုင်း အလ္လာဟ် အရှင်မြတ်၏ ဒေသနာတော် များကို မုသားဟု ပြောဆိုသော သူယုတ်တို့၏ ဥပမာပုံဆောင်ချက်ကားပို၍ပင်ဆိုးရွားလှပေသည်။ အရှက်အကြောက်ရှိသောသူများမှာကား ➤➤

وَلَقَدْ ذَرَأْنَا لِجَهَنَّمَ كَثِيرًا مِّنَ الْجِنِّ وَالْإِنسِ ۖ لَهُمْ قُلُوبٌ لَّا يَفْقَهُونَ بِهَا وَلَهُمْ أَعْيُنٌ لَّا يُبْصِرُونَ بِهَا وَلَهُمْ آذَانٌ لَّا يَسْمَعُونَ بِهَا ۚ أُولَٰئِكَ كَالْأَنْعَامِ بَلْ هُمْ أَضَلُّ ۚ أُولَٰئِكَ هُمُ الْغَافِلُونَ ﴿١٧٩﴾

**၁၇၉။** ၎င်းပြင် ငါအရှင်မြတ်သည် ငရဲဘုံအတွက် လူနှင့်ဂျင်န်များအနက် *မြောက်မြားစွာသောသူများကို ဖန်ဆင်းပေးထားတော်မူ၏။* [၁] ထိုသူတို့၌ စိတ်နှလုံးများကားရှိ၏။ သို့သော် ယင်းစိတ်နှလုံးများဖြင့် ထိုသူတို့သည် (စဉ်းစားဆင်ခြင် နားလည်ခြင်း မရှိကြချေ။) ထိုသူတို့၌ စက္ခုအာရုံများကားရှိ၏။ သို့သော် ထိုသူတို့သည် ယင်းစက္ခုအာရုံများဖြင့် မမြင်ကြချေ။ ထိုသူတို့၌ သောတာရုံများရှိ၏။ သို့သော် ထိုသူတို့သည် ယင်းသောတာရုံများဖြင့် မကြားကြချေ။ [၂]

ထိုသူများသည် တိရိစ္ဆာန်များနှင့် တူကြသည် သာမက တိရစ္ဆာန်များထက်ပင် လွန်စွာ မိုက်မဲလမ်းလွဲသူများဖြစ်ကြ၏။ စင်စစ်ထိုသူများသည် (မိမိတို့၏ တာဝန်ဝတ္တရားများကို) မေ့လျော့သူများသာ ဖြစ်ကြကုန်သတည်း။

➤➤ ထိုပုံဆောင်ချက်များသည် မိမိတို့နှင့်သက်ဆိုင်သည်ဟူ၍ အလျင်း လက်ခံကြမည်မဟုတ်ပေ။ အရက်အကြောက်ကင်းမဲ့သော သူများသာလျှင် ယင်းသို့သော ပုံဆောင်ချက်များကို မိမိတို့နှင့်သက်ဆိုင်သည်ဟူ၍ လက်ခံကြပေမည်။ အမှန်မှာ ထိုသို့သော သူယုတ်မာများသည် မိမိတို့ကိုယ်ကို မိမိတို့ပင်လျှင် နှိပ်စက်လျက်ရှိခဲ့ကြပေသည်။

(၂) ပညာသည် အလ္လာဟ်အရှင်မြတ်၏ တရားဓမ္မနှင့်ကူညီမှုဖြင့် မှန်ကန်သောအသိတရားနှင့်အညီ ကျင့်သုံးနိုင်ခွင့် ရရှိမှသာလျှင် အသုံးကျပေမည်။ အကယ်၍ ယင်းပညာဖြင့် မှန်ကန်သော တရားဓမ္မကို လိုက်နာကျင့်သုံးခွင့် မရရှိပါက အဘယ်မျှပင် ကြီးမားသောပညာရှင်ကြီး ဖြစ်စေကာမူ နစ်နာဆုံးရှုံးမည်သာဖြစ်သည်။ ထို့အတွက်ကြောင့် လူသားတို့သည် မိမိတို့၏ ပညာနှင့်ပတ်သက်၍ မာနမထားရပေ။ အမြဲတစေ အလ္လာဟ်အရှင်မြတ်ထံတော်မှ တရားဓမ္မနှင့်အညီ လိုက်နာကျင့်သုံးနိုင်စွမ်းကို ပန်ကြားရပေမည်။

(၁) ကုရ်အာန်ကျမ်းမြတ် (၅၁:၅၆)တွင် "ငါအရှင်မြတ်သည် ဂျင်န်နှင့်လူသားတို့ကို ငါ့အား ခဝပ်ကိုးကွယ်ကြရန် အလို့ငှာသာလျှင် ဖန်ဆင်းတော်မူသည်" ဟု မိန့်ဆိုထားတော်မူသည်။ ဤမုကွဒ္ဒပါဠိတော်ကို ထောက်ရှုခြင်းအားဖြင့် ဂျင်န်နှင့်လူသားအားလုံးတို့သည် အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ရန်အတွက်သာ ဖန်ဆင်းထားတော်မူကြောင်း သိရှိရသည်။ ကုရ်အာန်ကျမ်းလာ ဤမုကွဒ္ဒပါဠိတော် (၇:၁၇၉)ကို ထောက်ရှုခြင်းအားဖြင့် အချို့ဂျင်န်နှင့် လူသားတို့ကို ငရဲဘုံအတွက် ဖန်ဆင်းထားတော်မူကြောင်း ၎င်းတို့ ငရဲလားကြရမည့်အကြောင်းမှာ ခဝပ်ကိုးကွယ်မှုကို စွန့်လွှတ်ထားခြင်းကြောင့်သာဖြစ်ကြောင်း သိရှိရပေသည်။ သာမာန်အားဖြင့်ကြည့်လျှင် ယင်းမုကွဒ္ဒပါဠိတော် ၂-ပါးသည် အချင်းချင်း ဆန့်ကျင်လျက်ရှိဟန်တူပေသည်။ အမှန်မှာ အချင်းချင်း မဆန့်ကျင်ပေ။ ➤➤

وَلِلّٰهِ الْاَسْمَآءُ الْحُسْنٰى فَادْعُوْهُ بِهَا ۪ وَذَرُوا الَّذِيْنَ يُلْحِدُوْنَ فِيْٓ اَسْمَآئِهٖ ؕ سَيُجْزَوْنَ مَا كَانُوْا يَعْمَلُوْنَ ﴿١٨٠﴾

၁၈၀။ စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်၌ ကောင်းမြတ်သော နာမံတော် (ဂုဏ်တော်)များ ရှိကြပေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် ထို အရှင်မြတ်အား *ယင်းနာမံတော်များဖြင့်သာ တသကြလေကုန်။* [၁] (တနည်း) ဆုတောင်းပတ္ထနာ ပြုကြလေကုန်။ ၎င်းပြင် အသင်တို့သည် ထိုအရှင်မြတ်၏နာမံတော်များနှင့်စပ်လျဉ်း၍ ချွတ်ချော်တိမ်းပါးပြစ်မှားသူတို့ကို ပစ်ပယ်စွန့်ပစ်၍ထားကြလေကုန်။ ၎င်းတို့သည် မကြာမြင့်မီကာလတွင် မိမိတို့၏ အပြုအမူများနှင့်စပ်လျဉ်း၍ အစားပေးခြင်းကိုခံကြရလတ္တံ့။

---

➤➤ အဘယ်ကြောင့်ဆိုသော် (၅၁း၅၆)တွင် ပါရှိသော (لام) "လာမ်" သည် ( غاية تشريعي ) အတွက်ဖြစ်သည်။ မုက္ခပါဋ္ဌ်တော် (၇း၁၇၉)တွင် ပါရှိသော "လာမ်" သည် ( غاية تكويني ) အတွက်ဖြစ်သည်။

(J) အချို့ဂျင်န်နှင့် လူသားတို့တွင် အမည်အားဖြင့်သာလျှင် စိတ်၊ နား၊ မျက်စိရှိသည်။ သို့ရာတွင် ၎င်းတို့သည် မိမိတို့၏စိတ်ဖြင့်လည်း အလ္လာဟ်အရှင်မြတ်၏ မုက္ခပါဋ္ဌ်တော်များကို မစဉ်းစားကြပေ။ မျက်စိဖြင့်လည်း ထိုအရှင်မြတ်၏ လက္ခဏာတော်များကို နက်နက်နဲနဲ သဘောပေါက်အောင် မကြည့်ကြပေ။ နားဖြင့်လည်း ထိုအရှင်မြတ်၏ ဒေသနာတော်များကိုလိုက်နာရန် နားမထောင်ကြပေ။ တိရစ္ဆာန်များသည် မိမိတို့၏အာရုံများကို စားရန်သောက်ရန်၊ မေထုန်မှီဝဲရန်အတွက်သာ အသုံးပြုကြသကဲ့သို့ ၎င်းတို့သည်လည်း မိမိတို့ စိတ်၊ ဦးနှောက်၊ ခြေ၊ လက်၊ နား၊ မျက်စိသည့် အလ္လာဟ်အရှင်မြတ် ချီးမြှင့်တော်မူသော စွမ်းရည်သတ္တိအားလုံးတို့ကို လောကီစည်းစိမ်များ ဆည်းပူးရန်အတွက်သာလျှင် အသုံးပြုကြသည်။ ၎င်းတို့သည် လူ့သဘာဝ၏ အထွတ်အထိပ်ဖြစ်သော ဂုဏ်ရည်သတ္တိများ၊ ထူးကဲမြင့်မြတ်မှုများနှင့် သူမွန်သူမြတ်တို့၏ အကျင့်စာရိတ္တများကို ရှာဖွေဆည်းပူးရန်ကား အမှတ်ပင်မရကြပေ။ စဉ်းစားဆင်ခြင်လျှင် ၎င်းတို့၏အဖြစ်သည် တိရစ္ဆာန်များထက် ပိုမိုဆိုးရွားလှပေသည်။ အဘယ်ကြောင့်ဆိုသော် တိရစ္ဆာန်များသည် သခင်ကခေါ်လျှင် လာသေးသည်။ ငေါက်လျှင် ရပ်တန့်သွားသေးသည်။ ၎င်းတို့သည်ကား မိမိတို့၏အရှင် သခင်၏စကားကို လိုက်နာရန်ဝေးစွ၊ နားပင်မစွင့်ကြပေ။ ထို့ပြင်တဝ တိရစ္ဆာန်များသည် မိမိတို့၏သဘာဝစွမ်းရည်သတ္တိများကို အလ္လာဟ်အရှင်မြတ်က အသုံးပြုရန် သတ်မှတ်ထားတော်မူသော နေရာများ၌သာလျှင် အသုံးပြုကြပေသည်။ ထိုထက်ပို၍လည်း ယင်းတိရစ္ဆာန်များတွင် စွမ်းရည်အလျှင်းမရှိပေ။ သို့ရာတွင် အထက်ဖော်ပြပါ လူများနှင့်ဂျင်န်များထံတွင်မူ နာမ်တရားများကို ပိုမိုတိုးတက်ရင့်ကျက်နိုင်စေရန် အစွမ်းသတ္တိများသည် အပ်နှင်းပြီးဖြစ်၏။ သို့တစေလည်း ၎င်းတို့သည် ယင်းစွမ်းရည်သတ္တိများကို အလွဲသုံးစားပြုကာ မိမိတို့ကိုယ်ကို မိမိတို့ပင် ဖျက်ဆီးလိုက်ကြလေသည်။ ဤကား မည်သူမပြု မိမိမှုပင်။

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ်၏တရားဒေသနာတော်များကို မေ့ပျောက်ထားသူများအကြောင်း မိန့်ဆိုထားတော်မူ၍ ဤမုက္ခပါဋ္ဌ်တော်တွင် မွတ်စ်လင်မ်တို့အား ယင်းသို့ မေ့ပျောက်မထားကြရမည့်အကြောင်း ➤➤

တနည်း။

ငင်းပြင် ကောင်းမွန်မြင့်မြတ်သော(သီးသန့်) နာမံတော်များသည် အလ္လာဟ်အရှင်မြတ်၌ (သီးခြား) ရှိသည်။ သို့ဖြစ်ရာ အသင်တို့သည် ထိုနာမံတော်များနှင့် ထိုအရှင်မြတ်ကိုသာလျှင် တသကြကုန်။ (ထို နာမံတော်များဖြင့် သူတစ်ပါးတို့ကို မခေါ်ဝေါ်ကြကုန်လင့်။) ငင်းပြင် အသင်တို့သည် ထိုအရှင်မြတ်၏ နာမံတော်များနှင့်ပတ်သက်၍ တိမ်းစောင်း ရွေ့ပါးပြစ်မှားသူတို့ကို စွန့်ပယ်ထားကြကုန်။ ၎င်းတို့သည် မကြာမီအတွင်း မိမိတို့၏ အပြုအမူများနှင့်စပ်လျဉ်း၍ အပြစ်ဒဏ်ပေးခြင်း ခံကြရလိမ့်မည်။

➤➤ မေ့ပျောက်မှုကို ကင်းဝေးစေသောအရာမှာ ထိုအရှင်မြတ်အား အောက်မေ့တသ သတိရခြင်းပင်ဖြစ်ကြောင်း၊ အလ္လာဟ်အရှင်မြတ်အား ကောင်းမွန်သောနာမံတော်များ၊ မြင့်မြတ်သောဂုဏ်တော်များနှင့်သာ အောက်မေ့တသ ရမည့်အကြောင်း၊ ထို့ပြင်တဝ ထိုအရှင်မြတ်၏ နာမံတော်၊ ဂုဏ်တော်များနှင့်ပတ်သက်၍ တိမ်းပါးပြစ်မှားသူတို့အား ပစ်ပယ်ထားရမည့်အကြောင်း၊ ယင်းသို့ တိမ်းပါးပြစ်မှားသူတို့သည် မိမိတို့၏ ပြစ်မှားမှု၏ပြစ်ဒဏ်ကို မကြာမီအတွင်း ခံစားကြရမည့်အကြောင်းများကို မိန့်ဆိုထားတော်မူသည်။

အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဂုဏ်တော်များနှင့်ပတ်သက်၍ တိမ်းယိမ်းပြစ်မှားခြင်းတွင် ရှရီအတ် တရားဥပဒေကခွင့်မပြုသော၊ ထိုအရှင်မြတ်နှင့် မသင့်မတော်၊ မလျော်ကန်သောအမည်၊ ဂုဏ်ပုဒ်ဖြင့် ထိုအရှင်မြတ် အား ခေါ်ဝေါ်ခြင်း၊ ထိုအရှင်မြတ်၏ သီးသန့်နာမံတော်၊ ဂုဏ်တော်များကို ထိုအရှင်မြတ်မှတပါး အခြား သူတို့အတွက် အသုံးပြုခြင်း၊ ထိုအရှင်မြတ်၏နာမံတော်၊ ဂုဏ်တော်များ၏ အနက်အဓိပ္ပာယ်များကို အလွဲလွဲ အမှားမှား ကောက်ယူဖွင့်ဆိုခြင်း၊ ထိုအရှင်မြတ်၏နာမံတော်ဂုဏ်တော်များကို စုန်း၊ မှော်၊ ဇော်ဂနီအစရှိသည့် မြစ်တားထားတော်မူသော အပြစ်ရှိသည့် ကိစ္စများတွင် အသုံးပြုခြင်းများသည် အကျုံးဝင်ပေသည်။

ထိုအရှင်မြတ်၏ နာမံတော်များနှင့်ပတ်သက်၍ "အစ်လ်ဟာဒ်" တိမ်းယိမ်းခြင်းဟူသည် ၂-မျိုး ၂-စားရှိသည်။ ပထမအမျိုးအစားမှာ ထိုအရှင်မြတ်အား ထိုအရှင်မြတ်နှင့် မလျော်ကန်သောအရာဖြင့် ခေါ်ဝေါ်ခြင်း၊ ဒုတိယအမျိုးအစားမှာ ထိုအရှင်မြတ်၏ ဂုဏ်တော်များကို မလျော်ကန်သော အနက်အဓိပ္ပာယ် ကောက်ယူခြင်းဖြစ်သည်။ (ရာဃိဗ်)

အလ္လာဟ်အရှင်မြတ်၏ နာမံတော်များနှင့်ပတ်သက်၍ အကျယ်ကိုသိလိုပါက အလ်မနာရ်ကျမ်း အ-၉။ စ-၄၃၁-၄၄၈ တွင် ရှုပါကုန်။

တမန်တော်မြတ်၏ "ဟဒီဆ်" သြဝါဒကျမ်းကြီးများတွင် အလ္လာဟ်အရှင်မြတ်၌ နာမံတော် (၉၉)ပါး ရှိကြောင်း၊ နာမံတော်များကို ရေတွက်ကျက်မှတ်သောသူသည် ဂျန္နတ်သို့ ဝင်ရမည်ဖြစ်ကြောင်း အမြောက်အမြား တွေ့ရှိရပေသည်။

➤➤

وَمِمَّنْ خَلَقْنَآ أُمَّةٌ يَهْدُونَ بِٱلْحَقِّ وَبِهِۦ يَعْدِلُونَ ﴿١٨١﴾

၁၈၁။ ၎င်းပြင် ငါ အရှင်မြတ် ဖန်ဆင်းတော်မူသောသူတို့တွင် မှန်ကန်သော တရားဓမ္မနှင့် အညီ လမ်းညွှန်ကြသည့်ပြင် မိမိတို့ကိုယ်တိုင်လည်း ထိုတရားဓမ္မနှင့်အညီ (လိုက်နာ)စီရင် ဆုံးဖြတ်သော *လူတစ်စုသည် ရှိကြကုန်၏*။ ၁

وَٱلَّذِينَ كَذَّبُوا۟ بِـَٔايَٰتِنَا سَنَسْتَدْرِجُهُم مِّنْ حَيْثُ لَا يَعْلَمُونَ ﴿١٨٢﴾

၁၈၂။ ၎င်းပြင် အကြင်သူတို့သည် ငါအရှင်မြတ်၏ သက်သေ လက္ခဏာတော်များကို မဟုတ်မမှန်ဟု ငြင်းပယ်ကြကုန်၏။ ငါအရှင်မြတ်သည် ထိုသူတို့အား (ဂျဟန္နမ်ဘက်သို့) ထိုသူတို့ မသိသောနည်းဖြင့် *တဖြည်းဖြည်း ဆွဲယူတော်မူအံ့*။ ၂

➢➢ "အလ္လာဟ်အရှင်မြတ်၌ နာမံတော် (၉၉)ပါးရှိသည်။ ထိုနာမံတော်များကို ရေတွက်ကျက်မှတ်သောသူသည် ဂျန္နတ်သို့ဝင်ရမည်။" ဟု တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က မိန့်ကြားတော်မူခဲ့ကြောင်း သာဝကကြီး အဗူဟုရိုင်ရဟ်သခင်မှတဆင့်လာရှိသော ဟဒီဆ်ဩဝါဒတွင်ပါရှိသည်။ ဤဩဝါဒသည် ဗုခါရီ၊ မွတ်စ်လင်မ်ကျမ်းကြီးများနှင့် အခြားကျမ်းကြီးများတွင်လည်း လာရှိသည်။

(အလ်မနာရ်) အ-၉။ စ-၄၃၃။

(၁) (က) ဤမုက္ကဒ္ဒပါဌ်တော်တွင် ပါရှိသော "အွမ္မတ်"အုပ်စု၊ လူတစ်စုဟူသည် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ နောက်လိုက်တပည့်သားများကို ဆိုလိုသည်။ ၎င်းတို့သည် အစစအရာရာတွင် လွန်ကျွံမှု၊ ယုတ်လျော့မှု၊ တိမ်းပါးမှုတို့နှင့် ကင်းကွာပြီး၊ မှန်ကန်မှု၊ မျှတမှုလမ်းစဉ်၊ မဈ္ဈိမပဋိပဒါ အလယ်အလတ် လမ်းစဉ်ကိုသာ လိုက်နာကျင့်သုံးကြသည်။ သူတစ်ပါးတို့ကိုလည်း ထိုလမ်းစဉ်ဘက်သို့ပင် ဘိတ်မန္တကပြုကြသည်။

(ခ) အလ္လာဟ်အရှင်မြတ် ဖန်ဆင်းထားတော်မူသော ဂျင်န်နှင့်လူသားများသည် အားလုံး လမ်းလွဲနေကြသည်မဟုတ်။ ၎င်းတို့တွင် အုပ်စုတစ်ခုရှိသည်။ ထိုအုပ်စုသည် မှန်ကန်သောသာသနာ (ဝါ) အစ္စလာမ်နှင့်အညီ သူတစ်ပါးတို့ကိုလည်း သွန်သင်ဆုံးမ ညွှန်ပြကြသည်။ ထိုတရားတော်နှင့်အညီပင် မိမိတို့၏ အရေးကိစ္စတွင်လည်းကောင်း၊ သူတစ်ပါးတို့၏အရေးကိစ္စတွင် လည်းကောင်း၊ တရားသဖြင့် စီရင်ဆုံးဖြတ်ကြသည်။

(၂) အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော်များကို မုသားဟု ပြောဆိုသူများသည် များသောအားဖြင့် ဤပစ္စက္ခဘဝတွင် ချက်ခြင်းအပြစ်ဒဏ် မခံတတ်ကြရပေ။ ထို့ပြင်တဝ ၎င်းတို့သည် လောကီစည်းစိမ် ချမ်းသာသုခများကိုပင် ပိုမိုရရှိလာတတ်ကြပေသည်။ နောက်ဆုံး၌ ယင်းသို့သော သူယုတ်တို့သည် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်တော်မှ စိတ်အေးကာ ပြစ်မှုများကို ကျူးလွန်ရာတွင် ပိုမိုရဲတင်း၍ လာတတ်ကြပေသည်။ ဤသို့အားဖြင့် ၎င်းတို့သည် ကြီးလေးသောပြစ်ဒဏ် တပ်ရိုက်မှုကို ခံထိုက်သူများဖြစ်လာသည်အထိ မိမိတို့ကိုယ်တိုင် တဖြည်းဖြည်း အတည့်အလင်း အထင်အရှား ပြုလုပ်လာကြပေသည်။ ဤသည်ပင် အလ္လာဟ်အရှင်မြတ်၏ လျှော့ပေးမှု၊ လှန်စားထားမှု၊ ဂျဟန္နမ်ငရဲဘက်သို့ တဖြည်းဖြည်းဆွဲဆောင်မှုဖြစ်သည်။ ထိုသူယုတ်တို့သည် ယင်းသို့ ➢➢

وَأُمْلِي لَهُمْ ۚ إِنَّ كَيْدِي مَتِينٌ ﴿١٨٣﴾

၁၈၃။ အမှန်သော်ကား ငါအရှင်မြတ်သည် ၎င်းတို့အား (ကာလကြာမြင့်စွာ) ရွှေ့ဆိုင်းခွင့်ပေးတော်မူ၏။ ဧကန်စင်စစ် ငါအရှင်မြတ်၏ လျှို့ဝှက်စွာ ကြံစည်မှုသည် အလွန်ခိုင်ခံ့လေသတည်း။

أَوَلَمْ يَتَفَكَّرُوا ۗ مَا بِصَاحِبِهِم مِّن جِنَّةٍ ۚ إِنْ هُوَ إِلَّا نَذِيرٌ مُّبِينٌ ﴿١٨٤﴾

၁၈၄။ ၎င်းတို့သည် မိမိတို့၏အဖော် (နဗီတမန်တော် မုဟမ္မဒ်သခင်)၌ ရူးသွပ်ခြင်းသည် လုံးဝမရှိကြောင်း၊ ၎င်းသည် ထင်ရှားစွာသော အသိပေး နိုးဆော်သူတဦးသာလျှင်ဖြစ်ကြောင်း ကောင်းမွန်စွာ ဆင်ခြင်သုံးသပ်ခဲ့ကြသည် မရှိလေသလော။ ၁

---

➤➤ လျှော့ပေးမှု၊ လုန်စားထားချက်ကိုပင် ငါတို့အပေါ်တွင် ကျေးဇူးတော်များ သက်ရောက်လျက်ရှိသည်ဟူ၍ပင် မိုက်မဲစွာ ထင်မှတ်နေကြသည်။ အမှန်မှာ ယင်းသို့ လျှော့ပေးထားတော်မူခြင်းမှာ ၎င်းတို့အား အကြီးဆုံးသော ပြစ်ဒဏ်ကို တပ်ရိုက်ရန် စီစဉ်တော်မူခြင်းပင်ဖြစ်သည်။ အမြင်အားဖြင့် ကျေးဇူးတော်ဟု ထင်မှတ်ရသော်လည်း အမှန်မှာ အမျက်တော်ပင်ဖြစ်သည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ပရိယာယ် ဝေဝုစ်ပင်တည်း။ ထိုအရှင်မြတ်၏ ပရိယာယ်ကား ကြီးမားလှပေတကား။

① **ထုတ်ပြန်ပို့ချတော်မူသည့်အကြောင်း။**

တစ်နေ့သောအခါ တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် "ဆွဖာ" တောင်ပေါ်သို့တက်၍ ကုရိုက်ရှ်မျိုးနွယ်စု အသီးသီးတို့အား ဖိတ်ခေါ်ပြီး၊ အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်တော်များကို ကြောက်ရွံ့ရန် ပြောကြားတော်မူလေသည်။ ထိုအခါ ယင်းမျိုးနွယ်စုများအနက် တဦးက "အသင်တို့၏ ဤအဖော်သည် မုချ ရူးသွပ်နေသူဖြစ်သည်" ဟု ဆိုလေသည်။ ၎င်းသူသည် မိုးလင်းသည်အထိ ယင်းသို့ ကြွေးကြော်၍နေလေသည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော် (၇း၁၈၄) ကို ထုတ်ပြန်ပို့ချတော်မူလေသည်။ (အီဗ်နုဂျရီရ်)

ဤမုက္ခပါဌ်တော်သည် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)လက်ထက်ရှိ သွေဖည်ငြင်းဆန် မနာခံသောသူများကို ရည်ညွှန်းသည်။ တမန်တော်မြတ်သည် ၎င်းတို့နှင့်အတူ နေထိုင်သွားလာ စားသောက်သော အဖော်ပင်ဖြစ်သည်။ ၎င်းတို့သည် တမန်တော်မြတ်၏ သစ္စာ၊ သမာဓိ၊ ဂုဏ်သိက္ခာ၊ စိတ်နေသဘောထား၊ အကျင့်စာရိတ္တ၊ အပြုအမူ အပြောအဆို၊ အနေအထိုင်၊ အသွားအလာ အစစအရာရာကို ကောင်းစွာ သိရှိကြပေသည်။ စဉ်းစားဆင်ခြင်နိုင်ကြပေသည်။ တီးခေါက်ကြည့်နိုင်ကြပေသည်။

တမန်တော်မြတ်၌ ရူးသွပ်မှု အနံ့အသက်ရှိရန် ဝေးစွ တမန်တော်မြတ်၏ ဆောင်ရွက်ချက်များ၊ ထူးခြားချက်များနှင့် အောင်မြင်မှုများကိုကြည့်၍ ကမ္ဘာကြီးသည် အံ့သြလျက်ရှိပေသည်။ သို့ပါလျက် ယင်းသူယုတ်မာများသည် တမန်တော်မြတ်အား ရူးသွပ်သူဟူ၍ မဟုတ်မမှန် လုပ်ကြံ၍ ပြောဆိုဝံ့ခဲ့ကြပေသည်။ ယင်းသူယုတ်တို့ကား မိုက်တွင်းနက်လှပေတကား။

ကြည့်-မာဂျိဒီ။ ➤➤

أَوَلَمْ يَنظُرُوا فِي مَلَكُوتِ السَّمَاوَاتِ وَالْأَرْضِ وَمَا خَلَقَ اللَّهُ مِن شَيْءٍ وَأَنْ عَسَىٰ أَن يَكُونَ قَدِ اقْتَرَبَ أَجَلُهُمْ ۖ فَبِأَيِّ حَدِيثٍ بَعْدَهُ يُؤْمِنُونَ ﴿١٨٥﴾

**၁၈၅။** ထိုသူတို့သည် မိုးကောင်းကင်များနှင့် ကမ္ဘာမြေဝယ် (အလ္လာဟ် အရှင်မြတ်၏) အာဏာစက်တော်ကိုလည်းကောင်း၊ အလ္လာဟ်အရှင်မြတ် ဖန်ဆင်းတော်မူသော(သက်ရှိသက်မဲ့) အရာဝတ္ထု အလုံးစုံတို့ကိုလည်းကောင်း၊ မိမိတို့(သေဆုံးရန်) သတ်မှတ်ထားပြီးဖြစ်သောကာလ အပိုင်းအခြားသည် နီးကပ်လာပြီဖြစ်သည်ကိုလည်းကောင်း၊ မတွေးမမြင် မဆင်ခြင်မသုံးသပ်ကြလေသလော။ ၎င်းတို့သည် ဤ(ကုရ်အာန်ကျမ်းတော်မြတ် ကျရောက်ပြီး)နောက် မည်သည့် *စကားကို ယုံကြည်ကြပါဦးမည်နည်း။* ၁

➤➤ တမန်တော်မြတ်၏ အဖြစ်အပျက်အားလုံးကို စဉ်းစားဆင်ခြင် ကြည့်ရှုလျှင် တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်ဖြစ်ကြောင်း ကောင်းမွန်စွာသိရှိနိုင်ပေသည်။ တမန်တော်မြတ် ပြသခဲ့သော တန်ခိုးပြာဋိဟာများသည် (Supernatural preternatural) ဓမ္မတာတရားနှင့် ဆန့်ကျင်သောထူးခြား၊ ဆန်းပြား၊ အံ့ဖွယ်ရာများပင်ဖြစ်သည်။ ယင်းတန်ခိုးပြာဋိဟာများအနက် ကုရ်အာန်ကျမ်းမြတ်သည် အကြီးဆုံးနှင့် အထင်ရှားဆုံးသော အံ့မဆုံး တန်ခိုးပြာဋိဟာပင်ဖြစ်သည်။ တမန်တော်မြတ်၏ အကျင့်စာရိတ္တများသည်လည်း အံ့ဖွယ်မဆုံးပင် ဖြစ်သည်။ တနည်းအားဖြင့် ယင်းစာရိတ္တများသည်လည်း တန်ခိုးပြာဋိဟာပင် ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ယင်းစာရိတ္တများတွင် မည်သူမျှ တမန်တော်မြတ်နှင့် ယှဉ်ပြိုင်နိုင်သူမရှိပေ။ ဤသည့်အချက်ကို လက်တွေ့ကျင့်သုံးကြည့်ရှုပါက သိရှိနိုင်ပေသည်။ ကြည့်-ထာနဝီ။

(၁) မိုးမြေများတွင် အလ္လာဟ်အရှင်မြတ်၏ အာဏာစက် တည်ရှိနေပုံနှင့် ထိုအရှင်မြတ် ဖန်ဆင်းထားတော်မူသော သက်ရှိသက်မဲ့များကို ဉာဏ်မျက်စိဖြင့် စဉ်းစားဆင်ခြင်ပါက ဖန်ဆင်းတော်မူသော အလ္လာဟ်အရှင်မြတ် ထင်ထင်တပါး ရှိတော်မူသည်ကို သိရှိနိုင်ပေသည်။

သေခြင်းတရားကို အမြဲတစေ နှလုံးသွင်းထားပါက နောင်တမလွန်ဘဝတွင်ခံစားရမည့် အပြစ်ဒဏ်များကို စိုးရိမ်ပေမည်။ သို့စိုးရိမ်မှု ပေါ်ပေါက်လာလျှင် ယင်းပြစ်ဒဏ်များမှ လွတ်မြောက်ရန် ကြိုးစားအားထုတ်ပေမည်။ သို့ကြိုးစားအားထုတ်လျှင် မှန်ကန်သော သာသနာကို ရရှိပေမည်။

သေခြင်းတရားသည် နီးသည်၊ ဝေးသည်မရှိ၊ အချိန်မရွေး ဆိုက်ရောက်နိုင်၏။ စိတ်နှလုံးသားသို့ ထိရောက်စူးရှစေသည့် ကုရ်အာန်ကျမ်းလာဒေသနာတော်များကို ကြားနာပြီးနောက်သော်မှပင် တစ်စုံတစ်ရာ ပြောင်းလဲမှုမရှိပါက ယင်းသို့သော ကာဖိရ်များသည် ကုရ်အာန်ကျမ်းမြတ်၏နောက် မည်သည့်စကားကို ယုံကြည်ကြဦးမည်နည်း။ (မာဂျိဒီ၊ ထာနဝီ)

ဆိုလိုသည်ကား (အို-ကာဖိရ်အပေါင်းတို့) အလ္လာဟ်အရှင်မြတ်၏ တရားဒေသနာတော်များကို ငြင်းပယ်ခြင်းအကြောင်းကား အဘယ်နည်း။ ယင်းသို့ငြင်းပယ်ခြင်းကြောင့် ခံစားရမည့်အပြစ်ဒဏ်ကို မေ့လျော့နေခြင်းအကြောင်းကား အဘယ်နည်း။ ဤဒေသနာတော်များကို ယူဆောင်လာသောပုဂ္ဂိုလ်သည် အသိဉာဏ် ➤➤

مَنْ يُّضْلِلِ اللّٰهُ فَلَا هَادِيَ لَهٗ ۚ وَيَذَرُهُمْ فِيْ طُغْيَانِهِمْ يَعْمَهُوْنَ ﴿١٨٦﴾

**၁၈၆။** အကြင်သူအား အလ္လာဟ် အရှင်မြတ်သည် လမ်းမှားစေတော်မူအံ့။ ထိုသူ၌ တရားလမ်းမှန်ကို ညွှန်ကြားပြသမည့်သူ ဟူ၍ အလျင်း ရှိတော့မည် မဟုတ်ပေ။ ၎င်းပြင် ထိုအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့၏ခေါင်းမာမှု၌ပင် တဝေ့လည်လည် ဖြစ်စေလျက် စွန့်ပစ်၍ ထားတော်မူအံ့သတည်း။ ၁

يَسْـَٔلُوْنَكَ عَنِ السَّاعَةِ اَيَّانَ مُرْسٰىهَا ۭ قُلْ اِنَّمَا عِلْمُهَا عِنْدَ رَبِّيْ ۚ لَا يُجَلِّيْهَا لِوَقْتِهَآ اِلَّا هُوَ ۘ ثَقُلَتْ

**၁၈၇။** ၎င်းတို့သည် (ပြက်ရယ်ပြောင်လှောင်သောသဘောနှင့်)အသင့်အား ကိယာမတ် ရှင်ပြန်ထမည့်နေ့နှင့်စပ်လျဉ်း၍ "ထိုကိယာမတ် ရှင်ပြန်ထမည့်နေ့သည် မည်သည့် အချိန်အခါ၌ ဆိုက်ရောက်မည်နည်း" ဟု မေးမြန်းကြကုန်၏။ ၂

➤➤ မဲ့သူလည်း မဟုတ်။ ရူးသွပ်နေသူလည်းမဟုတ်။ ထိုပုဂ္ဂိုလ်သည် မိမိ၏အသက်ထက်ဆုံး အသင်တို့နှင့်အတူ သွားလာနေထိုင်ခဲ့၏။ ထိုပုဂ္ဂိုလ်၏အပြုအမူ အပြောအဆို အကျင့်အကြံ ကြီးငယ်ဟူဟူသမျှကို အသင်တို့အသိပင် ဖြစ်၏။ ထိုပုဂ္ဂိုလ်၏ အသိဉာဏ်၊ အတွေးအခေါ် အမြော်အမြင်၊ သစ္စာသမာဓိ ဂုဏ်သိက္ခာများသည် အလွန်ကျော်ကြား၏။ အသင်တို့လည်း လက်ခံထားပြီးဖြစ်၏။ ထိုပုဂ္ဂိုလ်ထံသို့ တရားဒေသနာ တော်များကို ထုတ်ပြန်ပို့ချတော်မူသော အရှင်မှာ သက်ရှိသက်မဲ့အားလုံးတို့ကို ဖန်ဆင်းတော်မူသောအရှင်၊ ကမ္ဘာအဝှန်းကို စိုးပိုင်တော်မူသော အရှင်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်၏ စီမံအုပ်ချုပ်မှုသည် အလွန်တရာမျှ ပိရိတောင့်တင်း ခိုင်မြဲလှသည်။ စဉ်းစားဆင်ခြင်လျှင် ထိုအရှင်မြတ် ဖန်ဆင်းထားတော်မူသော သဘာဝသက်သေ လက္ခဏာတော်များသည် ထုတ်ပြန်ပို့ချတော်မူသော ကျမ်းဂန်လာ သက်သေလက္ခဏာတော်များ၏ မှန်ကန်ကြောင်းကို ထောက်ခံလျက်ရှိပေသည်။ သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်၏ တရားဒေသနာတော်များကို လက်မခံနိုင်ရန် အကြောင်းကား အလျင်းမရှိပေ။ ကာဖိရ်များ နားလည်ထားအပ်သည်မှာ ၎င်းတို့၏ သေကြေပျက်စီးရန်အချိန်သည် နီးကပ်လာဟန် ရှိချေပြီ၊ သို့ဖြစ်ပေရာ ၎င်းတို့သည် နောင်တမလွန် ကောင်းစားရေးအတွက် လုပ်အပ်သော အစီအစဉ်များကို အလျင်အမြန် လုပ်သင့်ကြပေပြီ။

(၁) ဤမုက္ခပါဌ်တော်နှင့်ဆက်စပ်၍ ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော် (၅း၄၁။ ၁၀း၉၉-၁၀၂) ကို ဆင်ခြင်ပါကုန်။

(၂) "ကိယာမတ်" နေ့သည် တစ်နေ့သော် မုချဆိုက်ရောက်မည်။ ကိယာမတ်နေ့ ဆိုက်ရောက်မည်ကို ယုံကြည်ခြင်းသည် "အီမာန်" တွင် အပါအဝင်ဖြစ်သည်။ "ကိယာမတ်" ကို ကုရ်အာန်ကျမ်းမြတ်တွင် "ကိယာမတ်" "စာအဟ်" "ဝါကိအဟ်" "ဆွာခ်ခဟ်" "ယောင်မွှန်အဒ်ဒီမွှန်" "ကာရိအဟ်" "ယောင်မုလ်ဖတ်ဆ်လ်" "ယောင်မုတ္တာဃာဗွန်" စသည်ဖြင့် အမျိုးမျိုးသုံးနှုန်းထားတော်မူသည်။ "ကိယာမတ်" ဟူသောပုဒ်ကို ကုရ်အာန် ကျမ်းမြတ်တွင် နေရာပေါင်း (၇၀)၌ တွေ့ရှိရသည်။ ကုရ်အာန်ကျမ်းမြတ်ကဏ္ဍစဉ် (၇၅)သည်လည်း ကိယာမတ်နှင့် ပတ်သက်သောကဏ္ဍပင် ဖြစ်သည်။ ကိယာမတ်နေ့တွင် ဖြစ်ပျက်မည့်အဖြစ်အပျက်များကို ကဏ္ဍ (၈၀၊ ၈၁၊ ၈၂၊ ၈၃၊ ၈၄၊ ၈၆၊ ၈၈၊ ၈၉)တွင် အထူးတလည် မိန့်ဆိုထားတော်မူသည်။ 

فِي السَّمٰوٰتِ وَالْأَرْضِ ۚ لَا تَأْتِيكُمْ إِلَّا بَغْتَةً ۗ يَسْـَٔلُونَكَ كَأَنَّكَ حَفِيٌّ عَنْهَا ۖ قُلْ إِنَّمَا عِلْمُهَا عِنْدَ اللّٰهِ وَلٰكِنَّ أَكْثَرَ النَّاسِ لَا يَعْلَمُونَ ١٨٧

အသင်သည် ၎င်းတို့အား (ဤသို့)ဖြေကြားပါလေ၊ (အို-အချင်းတို့) ထိုကိယာမတ် ရှင်ပြန်ထမည့်နေ့နှင့်စပ်လျဉ်းသော အသိကား ငါ၏အရှင်မြတ်ထံတော်၌သာလျှင် ရှိ၏။ ထိုအရှင်မြတ်သည်သာလျှင် ယင်းကိယာမတ်နေ့ကို ထိုကိယာမတ် (ဆိုက်ရောက်မည့်) အချိန်ကာလတွင် ပေါ်လွင်ထင်ရှားစေတော်မူအံ့။ ထိုကိယာမတ် (ဆိုက်ရောက်ခြင်းသည်) မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ အလွန်လေးလံ (ကြီးကျယ်လှသော ကိစ္စတရပ်ဖြစ်)၏။ ယင်းကိယာမတ်သည် အသင်တို့ထံ ရုတ်တရက် ရှောင်တခင်အားဖြင့်သာ ဆိုက်ရောက်လာပေမည်။

၎င်းတို့သည် အသင့်အား ထိုကိယာမတ်နှင့်စပ်လျဉ်း၍ အသင်သည် ကောင်းမွန်စွာ လေ့လာစူးစမ်းပြီးဖြစ်ဘိသကဲ့သို့ပင် မေးမြန်းကြလေသည်။ အသင်သည် (၎င်းတို့အား ဤသို့)ဖြေကြားပါလေ။ (အို-အချင်းတို့) ထိုကိယာမတ်နှင့် စပ်လျဉ်းသော အသိကား။ အလ္လာဟ်အရှင်မြတ်ထံတော်၌သာလျှင် ရှိ၏။ သို့ရာတွင် အများဆုံးသောသူတို့မူကား (ဤမျှလောက်ပင်) မသိ နားမလည်ကြပြီတကား။

---

➤➤ ကိယာမတ်ဖြစ်ပေါ်မည့်နေ့နှင့် ပတ်သက်၍ အတိအကျ အသေးစိတ်အသိသည် အလ္လာဟ်အရှင်မြတ်မှတပါး မည်သူတစ်ဦးတစ်ယောက်၌မျှ မရှိချေ။ မည်သည့်သတ္တဝါ၊ မည်သည့်ကောင်းကင်တမန်၊ မည်သည့်နဗီတမန်တော်မျှလည်း မသိချေ။

ကုရ်အာန်ကျမ်းမြတ် (၇း၁၈၅)တွင် ကာဖိရ်တို့၏ သေခြင်းနီးကပ်လာပြီဖြစ်ကြောင်း မိန့်ဆိုထားတော်မူ၏။ ၎င်းတို့သည် မည်သည့်နေ့ရက်တွင် သေကြေရမည်ကို မိမိတို့ကိုယ်တိုင် မသိကြပေ။ ဤမုက္ခပါဌ်တော်တွင် ကမ္ဘာတဝန်းလုံး သေကြေပျက်စီးရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။ လူတစ်ဦးတစ်ယောက်သည် မိမိသေရမည့် နေ့ရက်နာရီ အချိန်ပိုင်းကိုမျှ မသိရှိနိုင်လျှင် မည်သည့်ခုနှစ်၊ သက္ကရာဇ်၊ မည်သည့်နေ့ရက်၊ နာရီပိုင်းတွင် ကမ္ဘာကြီး တဝှန်းလုံး သေကြေပျက်စီးမည်ကို အသို့လျှင် သိရှိနိုင်အံ့နည်း။ ထိုနေ့ရက် နာရီပိုင်းကို သဗ္ဗညုတ ဉာဏ်တော်ရှင် ဖြစ်တော်မူသော အလ္လာဟ် အရှင်မြတ် မှတပါး မည်သူမျှမသိရှိပေ။ ➤➤

قُلْ لَّآ اَمْلِكُ لِنَفْسِىْ نَفْعًا وَّلَا ضَرًّا اِلَّا مَا شَآءَ اللّٰهُ ۗ وَلَوْ كُنْتُ اَعْلَمُ الْغَيْبَ لَاسْتَكْثَرْتُ مِنَ الْخَيْرِ ۛ وَمَا مَسَّنِىَ السُّوْٓءُ ۛ اِنْ اَنَا اِلَّا نَذِيْرٌ وَّبَشِيْرٌ لِّقَوْمٍ يُّؤْمِنُوْنَ ﴿١٨٨﴾

**၁၈၈။** (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့ထပ်မံ၍) ပြောကြားပါဦးလေ။ ငါသည် အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူသည့်အရာမှအပ၊ ငါ့အတွက်ပင် မည်သည့်အကျိုးကျေးဇူး ဖြစ်ထွန်းစေခြင်းကိုမျှလည်းကောင်း၊ မည်သည့် အကျိုးကျေးဇူး ယုတ်စေခြင်းကိုမျှ လည်းကောင်း၊ ပိုင်ဆိုင်သည် မဟုတ်ချေ။ အကယ်၍သာ ငါသည် မျက်ကွယ်၌ ရှိသည်တို့ကိုသိရှိပါမူ အကျိုးကျေးဇူးများစွာကို အမှန်ပင်ရယူခဲ့ပြီး ဖြစ်အံ့။ ၎င်းပြင် ငါ၌ (မိမိ အသက်တမ်းတလျှောက်လုံးတွင်) မည်သည့် ဆင်းရဲဒုက္ခမျှ သက်ရောက်မည်လည်းမဟုတ်ပေ။ ငါသည် သက်ဝင် ယုံကြည်သောသူတို့အဖို့ သတိပေးနှိုးဆော်သူနှင့် ဝမ်းမြောက်ဖွယ်ရာ သတင်းပြောကြားသူမျှသာ ဖြစ်ချေသတည်း။ ၁

➤➤ ကိယာမတ်မဖြစ်မီဖြစ်ပေါ်မည့် အတိတ်နိမိတ်များကို နဗီတမန်တော်များ၊ အထူးသဖြင့် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မိန့်ကြားတော်မူခဲ့သည်။ ထိုသို့သော အတိတ်နိမိတ်များ ဖြစ်ပေါ်ပြီးသည့် နောက်တွင်လည်း ကိယာမတ်ဖြစ်သည့်အခါ အမှုမဲ့အမှတ်မဲ့ ရုတ်တရက်ပင်ဖြစ်ပေမည်။ ဤအတိုင်း ဗုခါရီ အစရှိသည့် ဟဒီဆ်ကျမ်းကြီးများတွင် လာရှိပေသည်။

① ဤမုက္ခပါဌ်တော်ကို ထောက်ရှုခြင်းအားဖြင့် လူသားတစ်ဦးသည် အဘယ်မျှပင် ကြီးမားသော ပုဂ္ဂိုလ်ကြီး ဖြစ်စေကာမူ လုံး၀ အချုပ်အခြာ အာဏာလွတ်လပ်စွာ ရွေးချယ်ပြုလုပ်ပိုင်ခွင့်နှင့် အရာခပ်သိမ်းတို့ကို ဝန်းခြုံ သိစွမ်းနိုင်သည့် အလုံးစုံကိုသိတော်မူသော ဉာဏ်တော်ကို မရရှိနိုင်ကြောင်း ကောင်းစွာသိရှိရပေသည်။ တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် နဗီတမန်တော်အပေါင်းတို့၏ အကြီးအကဲ ဖြစ်တော်မူ၏။ အတိတ်နှင့်အနာဂတ် အသိပညာများ ရရှိတော်မူခဲ့၏။ ပထဝီမြေကြီးရှိ ဘဏ္ဍာတော်များ၏ သော့များကိုလည်း ရရှိတော်မူခဲ့၏။ ဤကဲ့သို့ ဂုဏ်အင်ဒြပ်များနှင့် ပြည့်စုံတော်မူသော တမန်တော်ကြီးအား "ကျွန်ုပ်သည် သူများအဖို့ မဆိုထားဘိ၊ မိမိအဖို့ပင်လျှင် မည်သည့်ကောင်းကျိုးချမ်းသာကိုမျှ မဖြစ်ထွန်းစေနိုင်ပါ။ မည်သည့် ဆိုးကျိုးမှလည်း မိမိကိုယ်ကို မကာကွယ်နိုင်ပါ။ သို့ရာတွင် အလ္လာဟ်အရှင်မြတ် အလိုတော်ရှိသမျှကိုသာ ကျွန်ုပ် စွမ်းဆောင်နိုင်ပါသည်။ အကယ်၍သာ ကျွန်ုပ်သည် မျက်ကွယ်၌ရှိသော အရာအားလုံးကိုသိပါလျှင် မြောက်မြားစွာသော ကောင်းကျိုးချမ်းသာများကို ရရှိမည်ဖြစ်သည်။ ထို့ပြင်တ၀ မည်သည့်ဆိုးကျိုးကိုမျှလည်း ခံစားရမည်မဟုတ်ပေ။ ယခုမူ ယင်းသို့မျက်ကွယ်၌ရှိသောအရာများကို မသိသည့်အတွက် တချိန်တခါ ကောင်းကျိုးချမ်းသာများကို လက်လွတ်ဖြစ်ရသည်။ ဆိုးကျိုးများနှင့် ရင်ဆိုင်ရပေသည်။ ဤတွင် အဖြစ်အပျက်များကို သာဓကအဖြစ် ဖော်ပြပါအံ့။ ➤➤

➤➤ ဥပမာ-ကြင်ရာတော် အာအိရှာသခင်မအား အချို့သူယုတ်တို့က မဟုတ်မမှန် လုပ်ကြံစွပ်စွဲ ပြောဆိုခဲ့ကြသည့်အခါ တမန်တော်မြတ်သည် ရက်အတန်ကြာသည်အထိ အလ္လာဟ်အရှင်မြတ်ထံတော်မှ "ဝဟီ" ရောက်ရှိမလာသည့်အတွက် ပူပန်သောက စိတ်ဒုက္ခဖြစ်၍ နေတော်မူခဲ့၏။

"ဟိဂျ်ဂျတုလ်ဝဒါအ်" ၌ တမန်တော်မြတ်က "အကယ်၍ ကျွန်ုပ်သည် နောက်တွင် ဖြစ်ပေါ်လာမည့် အရာကို ယခင်က ကြိုတင်၍သိခဲ့ပါမူ "ဟဒီ" (ကုရ်ဗာနီ) တိရစ္ဆာန်များကို မည်သည့်နည်းနှင့်မျှ ယူဆောင်လာခဲ့မည် မဟုတ်" ဟု အတည့်အလင်း မိန့်ကြားတော်မူခဲ့၏။ တမန်တော်မြတ်၌ ဤကဲ့သို့သော အဖြစ်အပျက် အမြောက်အမြား ဖြစ်ပေါ်ခဲ့သည်။ အကယ်၍ တမန်တော်မြတ်၌ အရာခပ်သိမ်းတို့ကို ဝန်းခြုံသိမြင်နိုင်သော အသိရှိခဲ့ပါမူ ထိုထိုသောပြဿနာများကို လွယ်ကူစွာဖြင့် ကျော်လွှန်တော်မူခဲ့နိုင်ပေသည်။

အထက်ဖော်ပြပါ အဖြစ်အပျက်များထက် ပိုမိုထူးကဲသော အဖြစ်အပျက်မှာ ကောင်းကင်တမန် ဂျိဗ်ရီလ်နှင့် တွေ့ဆုံသည့်အဖြစ်အပျက်၌ အချို့ကျမ်းချက်များတွင် တမန်တော်မြတ်က "ကျွန်ုပ်သည် ကောင်းကင်တမန် ဂျိဗ်ရီလ်ကို ပြန်သွားသည့်အချိန်အထိ မမှတ်မိလိုက်ပါ။ ထပြန်သွားသည့်အခါကျမှ ကောင်းကင်တမန် ဂျိဗ်ရီလ်ဖြစ်ကြောင်း သိလိုက်ပါသည်။ ဤသည် ပထမအကြိမ်ပင် ဖြစ်သည်" ဟု မိန့်ကြားတော်မူခဲ့၏။

ဤအဖြစ်အပျက်သည် တမန်တော်မြတ်၏ သက်တော် နောက်ဆုံးပိုင်းတွင် ဖြစ်ပေါ်ခဲ့သော အဖြစ်အပျက်ပင် ဖြစ်သည်ဟု မုဟဒ္ဒိစ်ဆ်ပညာရှင်တို့က ထုတ်ဖော်ရေးသားကြသည်။ ထိုအဖြစ်အပျက်၌ပင် ကောင်းကင်တမန်က ကိယာမတ်နှင့်ပတ်သက်၍ တမန်တော်မြတ်အား မေးမြန်းသည့်အခါ တမန်တော်မြတ်က "ယင်း (ကိယာမတ်)နှင့် ပတ်သက်၍ အမေးခံရသောပုဂ္ဂိုလ်သည် မေးမြန်းသောပုဂ္ဂိုလ်ထက် ပိုမို၍မသိပါ" ဟု ဖြေကြားတော်မူခဲ့လေသည်။ ဤသည် တနည်းဆိုသော် အရာခပ်သိမ်းတို့ကို ဝန်းခြုံသိမြင်နိုင်သော အလုံးစုံကို သိတော်မူသော ဉာဏ်တော်သည် အလ္လာဟ်အရှင်မြတ်မှတပါး မည်သူ့၌မျှမရှိကြောင်း ပွင့်လင်းစွာ ထုတ်ဖော် မိန့်ကြားတော်မူလိုက်ခြင်းပင်ဖြစ်သည်။

မျက်ကွယ်၌ရှိသောအရာများကို သိစွမ်းနိုင်သော အသိဉာဏ်ကိုထားဘိဦး၊ မျက်မြင် တွေ့ထိနိုင်သော အရာများ၏ အသိဉာဏ်သည်ပင်လျှင် အလ္လာဟ်အရှင်မြတ် ပေးသနားတော်မူမှသာလျှင် ရရှိသည်ဖြစ်သည်။ ထိုအရှင်မြတ် အလိုတော်မရှိပါလျှင် ကျွန်ုပ်တို့သည် မျက်မြင်တွေ့ထိကိုင်တွယ်ရသော အရာများကိုပင်လျှင် သိရှိနိုင်ကြမည် မဟုတ်ပေ။

အချုပ်ဆိုသော် လုံးဝ အချုပ်အခြာအာဏာနှင့် အရာခပ်သိမ်းတို့ကို ဝန်းခြုံသိမြင်နိုင်သော ဉာဏ်တော်သည် အလ္လာဟ်အရှင်မြတ်မှတပါး မည်သူ့၌မျှမရှိကြောင်း၊ ထိုအာဏာနှင့် အသိဉာဏ်သည် အချို့ ဉာဏ်ပညာကင်းမဲ့သူများ ထင်မှတ်နေကြသကဲ့သို့ နဗီတမန်တော်များ၌ မုချရှိအပ်သော မရှိမဖြစ်သော အရာမဟုတ်ကြောင်း ဤမုဗာရက်ပါဠ်တော်တွင် အတိအလင်း မိန့်ဆိုထားတော်မူခြင်းပင်ဖြစ်သည်။

နဗီတမန်တော်များသည် မိမိတို့နှင့်ပတ်သက်သည့် "တရှိရီအ်" တရားဥပဒေဆိုင်ရာများတွင် အားလုံးပြည့်စုံကြပေသည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် "တက္ကဝီနီ" ဖန်ဆင်းတော်မူခြင်းဆိုင်ရာများတွင် ထိုက်တန်သူအား ထိုက်တံသမျှကိုသာ ချီးမြှင့်တော်မူသည်။ ဤအသိဉာဏ် အမျိုးအစားတွင် တမန်တော်မြတ်မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အတိတ်အနာဂတ်ရှိ သတ္တဝါအားလုံးတို့ထက် ပိုမိုချီးမြှင့်တော်မူခြင်းခံခဲ့ရ ပေသည်။ တမန်တော်မြတ်အား အလ္လာဟ်အရှင်မြတ်သည် မြောက်မြားစွာသော အသိဉာဏ်များကို ချီးမြှင့်တော် မူခဲ့၏။ ထိုထိုသော အသိဉာဏ်များကို မည်သူတစ်ဦးတစ်ယောက်မျှ ရေတွက်နိုင်သည်ပင်မရှိချေ။

**၁၈၉။** ထိုအရှင်မြတ်သည် အသင်တို့အား အသက်တချောင်းတည်းမှ ဖန်ဆင်းတော်မူသော အရှင်မြတ်ပင်ဖြစ်တော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည် ထိုအသက်တချောင်းမှပင်လျှင် ၎င်း၏ (ကြင်ရာကြင်ဖက်)ကို ၎င်း၏ထံ၌ တည်ငြိမ်မွေ့လျော်စွာ နေနိုင်ရန် ပြုလုပ် (ဖန်ဆင်း)တော်မူခဲ့လေသည်။ ထို့နောက် ၎င်း(ယောကျာ်း)သည် ယင်းကြင်ရာအား ဖုံးလွှမ်းသည့်အခါ ယင်းသည် ပေါ့ပါးသောကိုယ်ဝန်ကို ထမ်း၍ ထို ကိုယ်ဝန်နှင့်တကွ (လွယ်ကူစွာ) သွားလာခြင်းကိုပြုလေသည်။ တဖန် ထိုကိုယ်ဝန်သည် ရင့်လေး၍လာသောအခါ ၎င်းတို့(ဇနီးမောင်နှံ)နှစ်ဦးသည် မိမိတို့အရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ် အထံတော်တွင် "အကယ်၍ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ကောင်းမွန်သော(သားသမီးကို) ချီးမြှင့်ပေးသနားတော်မူပါလျှင် ကျွန်တော်မျိုးတို့သည် (အရှင်မြတ်၏) ကျေးဇူးတော်ကို မုချ သိတတ်ကြပါမည်"ဟု ပတ္ထနာပြုကြကုန်၏။

هُوَ الَّذِىْ خَلَقَكُمْ مِّنْ نَّفْسٍ وَّاحِدَةٍ وَّجَعَلَ مِنْهَا زَوْجَهَا لِيَسْكُنَ اِلَيْهَا ۚ فَلَمَّا تَغَشّٰىهَا حَمَلَتْ حَمْلًا خَفِيْفًا فَمَرَّتْ بِهٖ ۚ فَلَمَّآ اَثْقَلَتْ دَّعَوَا اللّٰهَ رَبَّهُمَا لَئِنْ اٰتَيْتَنَا صَالِحًا لَّنَكُوْنَنَّ مِنَ الشّٰكِرِيْنَ ﴿١٨٩﴾

**၁၉၀။** သို့ရာတွင် ထို အရှင်မြတ်သည် ၎င်းတို့နှစ်ဦးအား (သားသမီးကို) ကောင်းမွန် ပြည့်စုံစွာ ချီးမြှင့်ပေးသနားတော်မူသောအခါ ၎င်းတို့နှစ်ဦးလုံးသည် ထိုအရှင်မြတ်က ၎င်းတို့အား ချီးမြှင့်တော်မူသောအရာနှင့်စပ်လျဉ်း၍ (အခြားအရာများ)ကို ထိုအရှင်မြတ်နှင့် တွဲဖက် ကိုးကွယ်ကြကုန်၏။[၁] စင်စစ်တမူကား အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့တွဲဖက်နိုင်းယှဉ် ကိုးကွယ်ကြသည်တို့ထက် အလွန်မြင့်မြတ်လှတော်မူပေသတည်း။

فَلَمَّآ اٰتٰىهُمَا صَالِحًا جَعَلَا لَهٗ شُرَكَآءَ فِيْمَآ اٰتٰىهُمَا ۚ فَتَعٰلَى اللّٰهُ عَمَّا يُشْرِكُوْنَ ﴿١٩٠﴾

---

(၁) အလ္လာဟ် အရှင်မြတ်သည် တန်ခိုးတော် အနန္တ ကျေးဇူးတော် အနန္တနှင့် ပြည့်စုံတော်မူသော အရှင်ဖြစ်တော်မူသည်။ ထို အရှင်မြတ်သည် လူသားတို့အား အသက်တချောင်းမှ (ဝါ) ဖခင်ကြီး အာဒမ် ➤➤

أَيُشْرِكُونَ مَا لَا يَخْلُقُ شَيْـًٔا وَهُمْ يُخْلَقُونَ ﴿١٩١﴾

၁၉၁။ ၎င်းတို့သည် အကြင်သို့သောအရာများကို (အလ္လာဟ်အရှင်မြတ်နှင့်)ယှဉ်တွဲကိုးကွယ်ကြသလော။ ထိုအရာများသည် တစ်စုံတစ်ရာကိုမျှ ဖန်ဆင်းနိုင်ကြသည်မရှိသည့်ပြင် မိမိတို့ကိုယ်တိုင်ပင် ဖန်ဆင်းခြင်းခံကြရပေသည်။

وَلَا يَسْتَطِيعُونَ لَهُمْ نَصْرًا وَلَآ أَنفُسَهُمْ يَنصُرُونَ ﴿١٩٢﴾

၁၉၂။ ထိုမှတပါး ယင်းတို့သည် ထိုသူတို့အား မည်သည့် အကူအညီမျှ မပေးနိုင်ကြသည်သာမက မိမိတို့ ကိုယ်တိုင်လည်း (လုံးဝ) ကူညီရိုင်းပင်းနိုင်ကြသည် မဟုတ်ပေ။

---

➤➤ (အလိုင်ဟစ္စလာမ်)မှ စတင် ဖန်ဆင်းတော်မူခဲ့သည်။ ပြီးနောက် ထိုဖခင်ကြီးအာဒမ်မှ ၎င်း၏ ကြင်ရာကြင်ဖက်တဦးကို (ဝါ) မိခင်ကြီးဟောင်ဝါသခင်မကို ဖန်ဆင်းတော်မူခဲ့သည်။ ဤအကြောင်း ကုရ်အာန် ကျမ်းမြတ် (၄း၁)တွင်လည်း မိန့်ဆိုထားတော်မူသည်။ ထို့နောက် ထိုဖခင်ကြီးနှင့် မိခင်ကြီးနှစ်ပါးတို့မှ သားသမီးမြောက်မြားစွာ ဆင်းသက် ပေါက်ပွားလာခဲ့ကြပေသည်။

၎င်းတို့တွင်လည်း ဇနီးမောင်နှံများ ဖြစ်လာခဲ့ကြပေသည်။ သို့ရာတွင် ယင်းဇနီးမောင်နှံများအနက် အချို့၏အဖြစ်ကား ဤသို့ရှိသည်။ ဇနီးမောင်နှံတို့ဘာဝ ပေါင်းသင်းကြသည့်အခါ ကိုယ်ဝန်ရှိလာခဲ့သည်။ ကိုယ်ဝန်ဆောင်သူသည် ပထမသော် ပေါ့ပါးစွာ သွားလာနေထိုင်ခဲ့သည်။ ကိုယ်ဝန်ရင့်မာလာသည့်အခါ လေးလံ၍လာခဲ့လေသည်။ ထိုအခါ ဇနီးမောင်နှံတို့သည် ကိုယ်ဝန်ရှိကြောင်း၊ အတိအကျ သိရှိလာကြသည့်အခါ ၎င်းတို့တွင် အမျိုးမျိုးသော အတွေးအထင်များ စိုးရိမ်မှုများ ဖြစ်ပေါ်လာခဲ့လေ သည်။ ထိုအခါ ဇနီးမောင်နှံတို့သည် အလ္လာဟ်အရှင်မြတ်အထံတော်တွင် အကယ်၍ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ကောင်းမွန်သော သားသမီးရတနာတပါး ပေးသနားတော်မူပါလျှင် ကျွန်တော်မျိုးတို့သည် အရှင်မြတ်၏ကျေးဇူးတော်ကို သိရှိကြပါမည်ဟု ဝန်ခံကတိပြု လျှောက်ထားပန်ကြားကြလေသည်။

(လူသားတို့သည် ဒုက္ခကြီးငယ်နှင့် တွေ့ကြသောအခါ အလ္လာဟ်အရှင်မြတ် အထံတော်တွင် ပဋိညာဉ်ကြီးငယ် ပြုလုပ်လေ့ရှိကြသည်မှာ မျက်မြင်ပင်ဖြစ်သည်။) အလ္လာဟ်အရှင်မြတ်သည် ထိုဇနီးမောင်နှံနှစ်ဦးတို့အား ကောင်းမွန်သော သားသမီးရတနာ ပေးသနားတော်မူသည့်အခါ ယင်းဇနီးမောင်နှံတို့သည် အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲကိုးကွယ်မှုကို ကာယကံအားဖြင့်သော်လည်းကောင်း၊ ဝစီကံအားဖြင့်သော်လည်းကောင်း၊ မနောကံအားဖြင့်သော်လည်းကောင်း၊ အမျိုးမျိုးအဖုံဖုံ ပြုလေကြတော့သတည်း။

ယင်းသို့ "ရှရ်ရစ်က်" ယှဉ်တွဲကိုးကွယ်မှု ပြုကြလင့်ကစား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ ယှဉ်တွဲ ကိုးကွယ်ကြသည်များထက် အလွန်ကြီးကဲ မြင့်မြတ်တော်မူလှပေသတည်း။(ထာနဝီ)

وَإِنْ تَدْعُوهُمْ إِلَى الْهُدَىٰ لَا يَتَّبِعُوكُمْ ۚ سَوَاءٌ عَلَيْكُمْ أَدَعَوْتُمُوهُمْ أَمْ أَنْتُمْ صَامِتُونَ ﴿١٩٣﴾

၁၉၃။ ထို့ပြင်အကယ်၍ အသင်တို့သည် ၎င်းတို့အား မှန်ကန်သောတရားလမ်းသို့ ဖိတ်ခေါ်ကြလျှင်လည်း ၎င်းတို့သည် အသင်တို့နောက်သို့ လိုက်နိုင်ကြမည် မဟုတ်ပေ။ [၁] (သို့ဖြစ်ပေရာ) အသင်တို့သည် ၎င်းတို့အား ဟစ်ခေါ်ကြသည်ဖြစ်စေ၊ ဆိတ်ဆိတ်နေကြသည် ဖြစ်စေ၊ (မည်သို့မျှ) အကြောင်းမထူးပေ။

إِنَّ الَّذِينَ تَدْعُونَ مِنْ دُونِ اللَّهِ عِبَادٌ أَمْثَالُكُمْ ۖ فَادْعُوهُمْ فَلْيَسْتَجِيبُوا لَكُمْ إِنْ كُنْتُمْ صَادِقِينَ ﴿١٩٤﴾

၁၉၄။ ဧကန် စင်စစ် အသင်တို့သည် အလ္လာဟ် အရှင်မြတ်မှအပ ဟစ်ခေါ် (ကိုးကွယ်ဆည်းကပ်) ကြကုန်သောအရာတို့မှာလည်း အသင်တို့ကဲ့သို့ပင် ကျွန်များ(အဖန်ဆင်းခံများ)သာလျှင် ဖြစ်ကြကုန်၏။ သို့ဖြစ်ပေရာ အသင်တို့သည် အကယ်၍သာ ဟုတ်တိုင်းမှန်ရာ ပြောဆိုသူများဖြစ်ကြပါလျှင် အသင်တို့သည် ၎င်းတို့အားဟစ်ခေါ်ကြလေကုန်။ တဖန် ၎င်းတို့သည်(လည်း) အသင်တို့အား ပြန်၍ထူးကြပါစေ။

أَلَهُمْ أَرْجُلٌ يَمْشُونَ بِهَا ۖ أَمْ لَهُمْ أَيْدٍ يَبْطِشُونَ بِهَا ۖ أَمْ لَهُمْ أَعْيُنٌ يُبْصِرُونَ بِهَا ۖ أَمْ لَهُمْ

၁၉၅။ ၎င်းတို့၌ လမ်းလျှောက်နိုင်ကြရန် ခြေများရှိကြလေသလော။ သို့မဟုတ် ၎င်းတို့တွင်(တစုံတရာ)ကို ကိုင်တွယ်နိုင်ကြရန် လက်များရှိကြလေသလော။ သို့တည်းမဟုတ် ၎င်းတို့၌ ကြည့်မြင်နိုင်ကြရန် မျက်စိများရှိကြလေသလော။ သို့တည်းမဟုတ် ၎င်းတို့၌ ကြားနိုင်ရန် နားများရှိကြလေသလော။

---

(၁) ( وَإِنْ تَدْعُوهُمْ إِلَى الْهُدَىٰ لَا يَتَّبِعُوكُمْ ) ဟူသော မုဗာရက်တော်၏အဓိပ္ပာယ်ကို နှစ်မျိုးနှစ်စား ပြန်ဆိုနိုင်သည်။ (က)အကယ်၍ အသင်တို့သည် ၎င်းတို့ကို အသင်တို့အား တစုံတရာလမ်းညွှန်ပြရန်အတွက် ဟစ်ခေါ်ကြလျှင် ၎င်းတို့သည် အသင်တို့၏စကားကို နာခံနိုင်ကြသည်မဟုတ်ပေ။ (ဝါ) တစုံတရာ လမ်းညွှန်နိုင်ကြသည် မဟုတ်ပေ။ (ခ)အကယ်၍ အသင်တို့သည် ၎င်းတို့ကို တစ်စုံတစ်ရာ လမ်းညွှန်ပြရန်အတွက် ၎င်းတို့အား ဟစ်ခေါ်ကြလျှင် ၎င်းတို့သည် အသင်တို့၏စကားကို လိုက်နာနိုင်ကြသည်မဟုတ်။ (ဝါ) အသင်တို့ ညွှန်ပြသည့် အတိုင်း လိုက်နာကျင့်သုံး နိုင်ကြသည်မဟုတ်ပေ။ ကြည့်-မာဂျိဒီ။ ထာနဝီ။

ဤ မုဗာရက်တော်သည် မုရှိရစ်ကများကို ရည်ညွှန်း မိန့်ဆိုထားတော် မူသော မုဗာရက်တော် ဖြစ်သည်။ "ဟွန်မ်" ဟူသော နာမ်စားသည် (ကာဖိရ် မုရှိရစ်ကတို့ ကိုးကွယ်ရာ ပြုလုပ်ထားကြသည့်) ရုပ်ထု၊ ရုပ်လုံးများကို ရည်ညွှန်းသည်။

(အို- နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့)အသင်တို့သည် (အလ္လာဟ်အရှင်မြတ်နှင့် နှိုင်းယှဉ်တွဲဖက် ကိုးကွယ်လျက် ရှိကြကုန်သော) မိမိတို့၏တွဲဖက်ကိုးကွယ်ရာတို့ကို ခေါ်ယူကြလေကုန်။ ထို့နောက် အသင်တို့သည် ငါ့အား *ဆိုင်းငံ့ခွင့်မပေးပဲ (၎င်းတို့နှင့် ပူးပေါင်းကာ ငါနှင့်ဆန့်ကျင်၍ ကြံစည်ကြလေကုန်။)* [၁]

اٰذَانٌ يَّسْمَعُوْنَ بِهَا ۗ قُلِ ادْعُوْا شُرَكَآءَكُمْ ثُمَّ كِيْدُوْنِ فَلَا تُنْظِرُوْنِ ﴿١٩٥﴾

**၁၉၆။** ဧကန်စင်စစ် (ငါ့ထံသို့)ကျမ်းဂန်ဒေသနာတော်ကို ချပေးသနားတော်မူသော အလ္လာဟ်အရှင်မြတ်သည်ပင် ငါ့အား ကာကွယ်စောင့်ရှောက်တော်မူသော အဆွေခင်ပွန်း ဖြစ်တော်မူပေသည်။ ထိုမှတပါး ထိုအရှင်မြတ်သည်ပင် သူတော်ကောင်းအပေါင်းတို့အားလည်း ကာကွယ်စောင့်ရှောက်တော်မူပေသတည်း။

اِنَّ وَلِيِّۦَ اللّٰهُ الَّذِيْ نَزَّلَ الْكِتٰبَ ۖ وَهُوَ يَتَوَلَّى الصّٰلِحِيْنَ ﴿١٩٦﴾

**၁၉၇။** သို့ရာတွင် ထိုအရှင်မြတ်မှတပါး အသင်တို့ဟစ်ခေါ် (ကိုးကွယ်ဆည်းကပ်တမ်းတ)ကြကုန်သော သူတို့မှာမူကား အသင်တို့အားလည်းကူညီနိုင်ကြသည် မဟုတ်ပေ။ မိမိတို့ ကိုယ်များကိုလည်း (မိမိတို့) ကူညီနိုင်ကြသည် မဟုတ်ချေ။

وَالَّذِيْنَ تَدْعُوْنَ مِنْ دُوْنِهٖ لَا يَسْتَطِيْعُوْنَ نَصْرَكُمْ وَلَآ اَنْفُسَهُمْ يَنْصُرُوْنَ ﴿١٩٧﴾

**၁၉၈။** ထိုမှတပါးအသင်တို့သည် အကယ်၍ ၎င်းတို့အား တရားလမ်းမှန်သို့ ဖိတ်ခေါ်ကြလျှင်လည်း ၎င်းတို့သည် (အသင်တို့ ဖိတ်ခေါ်သည်ကိုပင်) ကြားနိုင်ကြမည် မဟုတ်ချေ။

وَاِنْ تَدْعُوْهُمْ اِلَى الْهُدٰى لَا يَسْمَعُوْا ۗ وَتَرٰىهُمْ يَنْظُرُوْنَ

---

(၁) "မက္ကာမြို့တော်ရှိ မုရှ်ရစ်က်များက တမန်တော်မြတ်အား "အသင်သည် ကျွန်ုပ်တို့၏ ကိုးကွယ်ရာများကို မလေးမစား မခန့်မညား မထီမဲ့မြင် မပြုလုပ်နှင့်။ သို့မဟုတ်လျှင် ထို ကိုးကွယ်ရာများသည် အသင့်အပေါ်သို့ ဘေးဒုက္ခများ သက်ရောက်စေကြလိမ့်မည်" ဟု ပြောဆိုလေ့ရှိကြသည်။ ဤအကြောင်းကုရ်အာန် (၃၉း၃၆) တွင်လည်း ပါရှိသည်။ ယင်းသို့ ခြိမ်းခြောက်သော မုရှ်ရစ်က်တို့အား ဤ မုက္ခပါဌ်တော်တွင် ပြန်လည် ဖြေကြားထားတော်မူသည်။

إِلَيْكَ وَهُمْ لَا يُبْصِرُونَ ﴿١٩٨﴾

ထို့ပြင် (အို-နဗီတမန်တော်) အသင်သည် ယင်းမမှန်သော(ကိုးကွယ်ရာ)များအား မိမိဘက်သို့ ကြည့်နေဘိသကဲ့သို့ တွေ့မြင်နေရသော်လည်း စင်စစ်မှုကား ၎င်းတို့သည် (အလျင်း) ကြည့်မြင်နိုင်ကြသည် မဟုတ်ပေ။

خُذِ الْعَفْوَ وَأْمُرْ بِالْعُرْفِ وَأَعْرِضْ عَنِ الْجَاهِلِينَ ﴿١٩٩﴾

၁၉၉။ (အို-နဗီတမန်တော်) အသင်သည် ခွင့်လွှတ်ခြင်းတရားကို အမြဲလက်ကိုင်ထားကာ (၎င်းတို့အား) ကောင်းမြတ်သောအမှုတို့ကိုပြုလုပ်ကြရန် အမိန့်ပေးလျက်ရှိပါလေ။ ၎င်းပြင် အသင်သည် *အသိပညာကင်းမဲ့သောသူတို့ကို လျစ်လျူရှု၍နေပါလေ။* [၁]

وَإِمَّا يَنْزَغَنَّكَ مِنَ الشَّيْطَانِ نَزْغٌ فَاسْتَعِذْ بِاللَّهِ ۚ إِنَّهُ سَمِيعٌ عَلِيمٌ ﴿٢٠٠﴾

၂၀၀။ ထို့ပြင် အကယ်၍ရှိုင်တွာန်၏ထံမှ တစုံတရာ အကြံပေးချက်သည် အသင်(၏စိတ်နှလုံး)၌ သက်ရောက်ခဲ့ပါမူ အသင်သည် (ချက်ချင်းပင်) အလ္လာဟ် *အရှင်မြတ်၏ကာကွယ်စောင့်ရှောက်မှုကို ဆည်းပူးရှာဖွေ (ရယူ)ပါလေ။* [၂] စင်စစ်ကေန် ထိုအရှင်မြတ်သည် (အလုံးစုံကို) အကြွင်းမဲ့ ကြားတော်မူသောအရှင်၊ (အရာခပ်သိမ်းတို့ကို) အကြွင်းမဲ့ သိရှိတော်မူသော အရှင်မြတ်ပင်တည်း။

---

(၁) ဆိုလိုသည်ကား အသင်သည် မှုပြစ်ကျူးလွန်သူတို့ကို ခွင့်လွှတ်ပါလေ။ (ရူဟ်)

ဤမုက္ခပါဌ်တော်ကို ဆင်ခြင်ပါက ပညာနှင့်အညီ ကျင့်သုံးရမည့်အကြောင်း၊ ကျူးကျော်စော်ကားသူများအား လျစ်လျူပြုထားရမည့်အကြောင်း၊ အသိအလိမ္မာ ဉာဏ်ပညာကင်းမဲ့ သူများနှင့် ငြင်းခုံပြောဆိုခြင်း မပြုရမည့်အကြောင်းများကို ကောင်းစွာသိရှိနိုင်ပေသည်။

**သာဓက-**

အလ္လာဟ်အရှင်မြတ်က မိမိ၏နဗီတမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံသို့ ကုရ်အာန်ကျမ်းလာ မုက္ခပါဌ်တော်(၇း၁၉၉)ကို ထုတ်ပြန်ပို့ချတော်မူလိုက်သည့်အခါ တမန်တော်မြတ်က "အို - ဂျိဗ်ရီလ်၊ ဤကား အသို့ပါနည်း" ဟုမေးတော်မူရာ ကောင်းကင်တမန် ဂျိဗ်ရီလ်က အသင်သည် မိမိအား ကျူးကျော်စော်ကားသူကို ခွင့်လွှတ်ရမည်။ မိမိအား မပေးသူကို ပေးရမည်။ မိမိအား အဆက်ဖြတ်သူကို ဆက်ရမည်ဟု အလ္လာဟ်အရှင်မြတ်က အသင့်အား အမိန့်ပေးတော်မူသည်ဟု ဖြေကြားလေသည်။ ဤသည် အုဗိုင်ယ်သခင်ထံမှတဆင့် ကြားသိရသည်။ (အိဗ်နုကဆီရ်)

إِنَّ الَّذِينَ اتَّقَوْا إِذَا مَسَّهُمْ طَٰئِفٌ مِّنَ الشَّيْطَٰنِ تَذَكَّرُوا فَإِذَا هُم مُّبْصِرُونَ ﴿٢٠١﴾

၂၀၁။ မလွဲဧကန် (အလ္လာဟ်အရှင်မြတ်အား)ကြောက်ရွံ့ရှိသေ ခန့်ညားသော သူတို့မှုကား "ရှိုင်တွာန်" မိစ္ဆာကောင်၏ထံမှ တစုံတရာ စိုးရိမ်ဖွယ်ရာသည် ထိုသူတို့၌ သက်ရောက်ခဲ့သောအခါ (အလ္လာဟ်အရှင်မြတ်အား ချက်ချင်း) အောက်မေ့တသကြကုန်၏။ သို့ဖြစ်လျှင် ၎င်းတို့သည် ရုတ်တရက်ပင် (အမှန်ကို) မြင်လာကြကုန်သတည်း။ [၁]

---

(၂) တမန်တော်များသည် အလ္လာဟ်အရှင်မြတ်၏ ထိန်းသိမ်းကာကွယ်စောင့်ရှောက်မှုကြောင့် "မအ်ဆူမ်" အပြစ်ကင်းသော သူတော်စင်များသာ ဖြစ်ကြကုန်သည်။ ရှိုင်တွာန်၏နှောင့်ယှက်မှုသည် တမန်တော်များ၏ အဆိုပါဂုဏ်ပုဒ်နှင့် မည်သို့မျှမဆန့်ကျင်ပေ။

တမန်တော်များ၏ "အစ်မတ်" အပြစ်ကင်းမှု၏သဘောမှာ ရှိုင်တွာန်သည် ပြစ်မှုတစုံတရာကို ကျူးလွန်စေနိုင်သည်မဟုတ်။ ပြစ်မှုကျူးလွန်ရန် အကြံသာပေးနိုင်သည်။ ဥပမာ-ကာဖိရ်တစ်ယောက်သည် တမန်တော်တပါးရှေ့တွင် လာရောက်၍ ကုဖ်ရ်၏စကားကို ပြောဆိုနိုင်သော်လည်း ထိုတမန်တော်၌ကား မည်သို့မျှမထိခိုက်ချေ။ ယင်းသို့ ပြောဆိုခြင်းမှာ တမန်တော်၏ ဂုဏ်ကိုလည်း မည်သို့မျှ မထိခိုက်ချေ။ ထို့အတူ ဂျင်န်ကာဖိရ်လည်း တမန်တော်တပါးပါးရှေ့တွင် လာရောက်၍ မကောင်းသော အကြံကိုပေးနိုင်သော်လည်း တမန်တော်များ၌ကား မည်သို့မျှမထိခိုက်ပေ။

လူတိုင်း၌ ကောင်းကင်တမန်များအနက်မှ အဖော်တစ်ဦးနှင့် ဂျင်န်များအနက်မှ အဖော်တစ်ဦးရှိကြောင်း တမန်တော်မြတ်၌လည်း ယင်းသို့သော အဖော်များရှိကြောင်း သို့ရာတွင် တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ဖြင့် မိမိ၏ ဂျင်န်အဖော်အား နိုင်နင်းတော်မူကြောင်း၊ ထိုဂျင်န်အဖော်သည် တမန်တော်မြတ်အား ကောင်းရာကိုသာ အကြံပေးကြောင်း "ဆဟီဟ်မွတ်စ်လင်မ်" ကျမ်းကြီးတွင် လာရှိပေသည်။

ကြည့်-ထာနဝီ။ အစောင် - ၄။ စ-၆၄။

(၁) **ဖော်ပြချက်။**

ရှိုင်တွာန်၏ နှောင့်ယှက်မှုကြောင့် "တာကွာဝါ" တရားတွင် မည်သို့မျှ နစ်နာဆုံးရှုံးပျက်စီးမှု ဖြစ်ပေါ်သည် မဟုတ်ချေ။ ယင်းနှောင့်ယှက်မှုမှ လုံခြုံမှုသည် သုံးမျိုးသုံးစားရှိသည်။

(က) အမြင့်မားဆုံးသောအဆင့်မှာ ရှိုင်တွာန်၏ နှောင့်ယှက်မှုသည် စိတ်တွင် အလျင်းအမှတ်မထင်ပေ။ ဤသည့် ဥပမာကို တမန်တော် အီဗ်ရာဟီမ်နှင့်သားတော် အစ္စမာအီလ်၏ကုရ်ဗာနီပြုခန်းတွင် တွေ့ရှိနိုင်ပေသည်။

(ခ) အလယ်အဆင့်မှာ ရှိုင်တွာန်၏ နှောင့်ယှက်မှုသည် အမှတ်ထင်စေနိုင်သည်။ သို့ရာတွင် ချက်ချင်းပင် သတိတရားရကာ ယင်းနှောင့်ယှက်မှုမှ လွတ်မြောက်သွားသည်။ ဤသည် "ဆွစ်ဒ်ဒီကီန်" ခေါ် သစ္စာဝါဒီများ၏ အဆင့်အတန်းဖြစ်သည်။ ဤသည့် ဥပမာကို တမန်တော် ယူစုဖ်နှင့်ဇူလိုင်ခါတို့၏ အတ္ထုပ္ပတ္တိတွင် တွေ့ရှိနိုင်ပေသည်။



وَإِخْوَانُهُمْ يَمُدُّونَهُمْ فِي الْغَيِّ
ثُمَّ لَا يُقْصِرُونَ ﴿٢٠٢﴾

၂၀၂။ သို့ရာတွင် ယင်း "ရှိုင်တွာန်" မိစ္ဆာကောင်တို့၏ ညီသားအစ်ကိုတို့မူကား ၎င်းတို့အား ယင်း "ရှိုင်တွာန်" မိစ္ဆာကောင်တို့သည် လမ်းမှားသို့ဆွဲငင်(ခေါ်ယူ)လျက်ပင် ရှိကြကုန်၏။ ထို့နောက် ၎င်းတို့သည် (ထိုကဲ့သို့ ဆွဲငင်ခေါ်ယူခြင်းကို) ရပ်စဲကြသည်မဟုတ်ပေ။ (မိုက်မြဲတိုင်း ဆက်လက်မိုက်လျက်ရှိကြကုန်သတည်း။)

وَإِذَا لَمْ تَأْتِهِم بِآيَةٍ قَالُوا
لَوْلَا اجْتَبَيْتَهَا ۚ قُلْ إِنَّمَا أَتَّبِعُ
مَا يُوحَىٰ إِلَيَّ مِن رَّبِّي ۚ هَٰذَا
بَصَائِرُ مِن رَّبِّكُمْ وَهُدًى
وَرَحْمَةٌ لِّقَوْمٍ يُؤْمِنُونَ ﴿٢٠٣﴾

၂၀၃။ ထို့ပြင် အသင်သည် ထိုသူတို့ထံ (၎င်းတို့ တောင်းဆိုကုန်သော) တန်ခိုးပြာဋိဟာ သက်သေလက္ခဏာ တစုံတရာကို ယူဆောင်လာခြင်းကို မပြုသောအခါ ၎င်းတို့က "အသင်သည် (မိမိကိုယ်တိုင်) ထိုတန်ခိုးပြာဋိဟာ သက်သေလက္ခဏာကို အဘယ်ကြောင့် ရွေးချယ်၍မယူခဲ့ဘိသနည်း" ဟုပြောဆိုကြကုန်၏။ အသင်သည် (၎င်းတို့အား ဤသို့) ဖြေကြားပါလေ။ (အချင်းတို့) ငါသည် မိမိအရှင့်ထံတော်မှ မိမိထံ ပေးပို့တော်မူသော "ဝဟ်ယ်" အမိန့်တော်ကို လိုက်နာသူသာလျှင် ဖြစ်ပေသည်။ ဤ(ကုရ်အာန်ကျမ်းတော်မြတ်) သည်ပင်လျှင် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ (ထုတ်ပြန်ချမှတ် ပေးသနားတော်မူအပ်သော) အထင်အရှား သိမြင်နိုင်သော (တန်ခိုးပြာဋိဟာ) သက်သေသာဓကများလည်းဖြစ်သည်။

---

➤➤ (ဂ) အနိမ့်အဆင့်မှာ ရှိုင်တွာန် နှောင့်ယှက်မှုသည် မှားယွင်းချွတ်ချော် တိမ်းပါးစေနိုင်၏။ သို့ရာတွင် ချက်ချင်းပင် သတိတရားရကာ မိမိကိုယ်ကိုမိမိ ပြန်လည်ထိန်းသိမ်း လိုက်နိုင်သည်။ ဤသည် ဝန်ချတောင်းပန်ကြသော သူတော်စင်များ၏ အဆင့်ဖြစ်သည်။

အထက်ဖော်ပြပါအဆင့်များတွင် ရှိနေသော ပုဂ္ဂိုလ်များမှာ "အာရစ်ဖ်" "မွတ္တကီ" "ဝလီ"စသည့် သူတော်စင်များပင် ဖြစ်ကြပေသည်။ (မာဂျိဒီ)

ထိုမှတပါး သက်ဝင် ယုံကြည်သော သူတို့အဖို့ မှန်ကန်သော တရားလမ်းညွှန် ဖြစ်သည့်ပြင် ကရုဏာတရားလည်း ဖြစ်ချေသတည်း။ ၁

(၁) အတိတ်ခေတ်ရှိ မုရှိရစ်က်တို့သည် "နုဗုဝါတ်" နဗီတမန်တော်ဖြစ်ခြင်းကို "အုလူဟီယတ်" ကိုးကွယ်ရာ အရှင်သခင်ဖြစ်ခြင်း၏ တစိပ်တဒေသဖြစ်သည်ဟူ၍ ဖွတ်မိုတ်ကာ ဆိုခဲ့ကြသည်။ ဤသို့မဟုတ်ကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် နေရာအမြောက်အများ၌ မိန့်ဆိုထားတော်မူသည်။ "အာရစ်ဖ်" ပညာရှင်သူတော်စင်များက ဤမုကွ္ခပါဌ်တော်ကို ထောက်ထား၍ "နုဗုဝါတ်" သည် မှန်ကန်ပြည့်စုံစွာ ကျွန်ဖြစ်ခြင်း၏ အမည်ပင်ဖြစ်သည်ဟု ဆိုကြသည်။ မောင်လာနာ ထာနဝီသခင်က အကွယ်၌ရှိသောအရာများကို သိရှိခြင်းသည် လူသားတို့လွတ်လပ်စွာ ပြုလုပ်ဆည်းပူးနိုင်သော အရာမဟုတ်ကြောင်း ထိုသို့သိရှိခြင်းသည်လည်း ကျွန်ဖြစ်ခြင်း၏ ပြည့်စုံမှု၏ လက္ခဏာ မဟုတ်ကြောင်း၊ ကျွန်ဖြစ်ခြင်း ပြည့်စုံမှု၏ ကြီးမားသောလက္ခဏာမှာ "ဝဟီ" အမိန့်တော်များအတိုင်း လိုက်နာ ကျင့်သုံးခြင်းပင်ဖြစ်ကြောင်း ဤမုကွ္ခပါဌ်တော်တွင် အတည့်အလင်းပါရှိသည်ဟု ဖွင့်ဆိုရေးသားထားသည်။

ကြည့်-မာဂျိဒီ။

မုရှိရစ်က်တို့သည် မလိုမုန်းထားသောစိတ်ဖြင့် တမန်တော်မြတ်ထံ တန်ခိုးပြာဋိဟာများကို သတ်မှတ်၍ တောင်းဆိုကြသည်။ အလ္လာဟ်အရှင်မြတ်သည် ယင်းသူတို့တောင်းဆိုသော တန်ခိုးပြာဋိဟာများကို ပြသနိုင်တော်မူသော်လည်း မိမိ၏ "ဟစ်က်မတ်" ဉာဏ်တော်အရ ပြသရန်မလို၍ တမန်တော်မြတ်အား ယင်းတန်ခိုးပြာဋိဟာများကို ပြသစေတော်မမူသည့်အခါ ယင်းမုရှိရစ်က်တို့က တမန်တော်မြတ်အား တမန်တော်မဟုတ်ဟု ဆိုလိုသော သဘောဖြင့် အကယ်၍ အသင်သည် တမန်တော်ဖြစ်ပါလျှင် ထိုတန်ခိုးပြာဋိဟာများကို အဘယ်ကြောင့် မပြသ သနည်းဟု ပြောဆိုကြသည်။ တမန်တော်မြတ်က တန်ခိုးပြာဋိဟာပြုခြင်းသည် မိမိ၏လက်တွင်း၌ရှိသော ကိစ္စမဟုတ်ကြောင်း၊ ကျွန်ုပ်၏အဓိကအလုပ်မှာ ကျွန်ုပ်၏အရှင်ထံမှ ကျွန်ုပ်ထံသို့ ပို့ချတော်မူသော အမိန့်တော်များ ကို လိုက်နာကျင့်သုံးရန်သာလျှင် ဖြစ်ကြောင်း၊ ထို့ပြင်တဝ ဤကုရ်အာန်ကျမ်းမြတ်တွင်လာရှိသော "စူရဟ်" ကဏ္ဍများသည်ပင်လျှင် တန်ခိုးပြာဋိဟာများဖြစ်ပေရာ ဤကျမ်းမြတ်တစောင်လုံးသည်ပင် တန်ခိုးပြာဋိဟာ အမြောက်အမြား ဖြစ်လျက်ရှိကြောင်း၊ ပြီးနောက် ဤကျမ်းမြတ်သည် အီမာန်ယုံကြည်သူများအဖို့ တရားဓမ္မလည်း ဖြစ်ကြောင်း၊ ကရုဏာတော်လည်းဖြစ်ကြောင်း၊ ပြန်လည်ဖြေကြားတော်မူလေသည်။

အချုပ်မှာ နုဗုဝါတ် အဓိက သွန်သင်ဆုံးမ ပဲ့ပြင်မှုပင်ဖြစ်သည်။ တန်ခိုးပြာဋိဟာသည် နုဗုဝါတ် မှန်ကန်ကြောင်း အထောက်အထားပင်ဖြစ်သည်။ အထောက်အထားသည် အမျိုးမျိုးရှိသည်။ တခုနှင့်တခု မတူချေ။ နဗီသည် မိမိနဗီဖြစ်ကြောင်းနှင့်ပတ်သက်၍ မည်သည့်အထောက်အထားမဆို ကြိုက်နှစ်သက်ရာ ပြသပိုင်ခွင့်ရှိသည်။ ဥပဒေလောကတွင် တရားလိုတစ်ဦးသည် မိမိ၏အမှုနှင့်ပတ်သက်၍ မည်သည့် အထောက် အထားကိုမဆို ပြသနိုင်သည်မှာ အထင်အရှားပင်ဖြစ်သည်။ သို့ပါလျက် ဤအထောက်အထား ပြသရမည်။ ထိုအထောက်အထားမပြရဟုဆိုခြင်းမှာ အဓိပ္ပာယ်မရှိသောစကား ပြောဆိုခြင်းသာဖြစ်ပေသည်။ (ထာနဝီ)

တမန်တော်မြတ်ထံသို့ တစ်ခါတစ်ရံ "ဝဟီ" ကြန့်ကြာသွားသည့်အခါ ကာဖိရ်များက တမန်တော်မြတ် အား ပြောင်လှောင်သည့်သဘောဖြင့် "အသင် ယခု မုကွ္ခပါဌ်တော်တပါးပါးကို အဘယ်ကြောင့် ဖန်တီးပြုလုပ်၍ မယူလာခဲ့သနည်း။ ကုရ်အာန်တစ်စောင်လုံးကို အသင်ပင် ပြုလုပ်ဖန်တီးထားသည်မဟုတ်သလောဟု (မပြောကောင်း မဆိုကောင်း) ပြောဆိုကြသည်။



وَإِذَا قُرِئَ الْقُرْآنُ فَاسْتَمِعُوا لَهُ وَأَنصِتُوا لَعَلَّكُمْ تُرْحَمُونَ ﴿٢٠٤﴾

၂၀၄။ ၎င်းပြင် အသင်တို့သည် (မိမိတို့ရှေ့ဝယ်) ကုရ်အာန် ကျမ်းတော်မြတ်ကို ဖတ်ရွတ် သရဇ္ဈာယ် သောအခါ ထိုကုရ်အာန်ကျမ်းတော်မြတ်ကို *ဂရုပြု၍ ဆိတ်ငြိမ်စွာ နားစိုက်ကြလေကုန်။* [၁] သို့မှသာလျှင် အသင်တို့သည် (အလ္လာဟ်အရှင်မြတ်၏) ကရုဏာ တော်ကို ခံစားကြရလတ္တံ့။

➤➤ ထို့အတူ ကာဖိရ်များသည် တမန်တော်မြတ်ထံ အကြင်သို့သော တန်ခိုးပြာဋိဟာများကို တောင်းဆိုကြသည်။ ထိုထိုသော တန်ခိုးပြာဋိဟာများကို အလ္လာဟ်အရှင်မြတ်၏ "ဟစ်ကမတ်" ဉာဏ်တော်အရ ပြသရန်မလိုပေ။ ထိုထိုသော တန်ခိုးပြာဋိဟာများကိုပြသရန် တမန်တော်မြတ်က ငြင်းဆိုသောအခါ ယင်းကာဖိရ်များက အသင်သည် မိမိ၏အရှင်သခင်အား ပြောဆိုပြီး ကျွန်ုပ်တို့တောင်းဆိုသော တန်ခိုးပြာဋိဟာကို ရွေးချယ်၍ အဘယ်ကြောင့် မယူလာခဲ့သနည်းဟု ဆိုကြလေသည်။ ဤမုကဒ္ဒပါဠ်တော်တွင် ကာဖိရ်တို့၏ အထက်ပါ စကားနှစ်ရပ်လုံးနှင့် ပတ်သက်၍ တမန်တော်မြတ်အား ဖြေကြားစေတော်မူထားသည်။ အဖြေ၏အလိုသဘောမှာ အလ္လာဟ်အရှင်မြတ် အား မုသားစွပ်စွဲပြောဆိုခြင်းမှာ ကျွန်ုပ်၏အလုပ်မဟုတ်။ သို့တည်းမဟုတ် အလ္လာဟ်အရှင်မြတ်၏ ဟစ်ကမတ် တော်နှင့် ဆန့်ကျင်သောအရာ သို့မဟုတ် ပန်ကြားခွင့်မရှိသောအရာတစ်ခုကို လူများတောင်းဆိုသည့်အတွက်ကြောင့် အလ္လာဟ်အရှင်မြတ်ထံ ပန်ကြားရန်မှာလည်း ကျွန်ုပ်၏အလုပ်မဟုတ်။ ကျွန်ုပ်၏တာဝန်မှာ အလ္လာဟ်အရှင်မြတ်ထံ တော်မှ ရောက်ရှိလာသော "ဝဟီ" အမိန့်တော်များကို မိမိကိုယ်တိုင် လိုက်နာကျင့်သုံးပြီး သူတစ်ပါးတို့အား လိုက်နာကျင့်သုံးရန် ပြောကြားရန်ပင်ဖြစ်သည်။ ထို့ပြင်တဝ ဖန်ဆင်းတော်မူခြင်း၊ ထုတ်ပြန်ပို့ချတော်မူခြင်းနှင့် ဆိုင်သော တန်ခိုးပြာဋိဟာများကို အသင်တို့ ကျွန်ုပ်တို့ထံ တောင်းဆိုကြသည်။ ယင်းတန်ခိုးပြာဋိဟာများအတွက် ကုရ်အာန်ကျမ်းမြတ်ထက် ကြီးမားသောတန်ခိုးပြာဋိဟာ အဘယ်မှာရှိနိုင်အံ့နည်း။ ဤကျမ်းမြတ်တွင် ကမ္ဘာ တဝန်းလုံးအတွက် တရားရရှိစေနိုင်သည့် ဖြစ်ရပ်မှန်များလည်း ပါရှိသည်။ ဤကုရ်အာန်ကျမ်းမြတ်သည် တရားဓမ္မ၏ ဘဏ္ဍာတော် တိုက်ကြီးလည်းဖြစ်သည်။ အထူးသဖြင့် အီမာန်ယုံကြည်သူများအဖို့ ထူးခြားသည့် တရားဓမ္မနှင့် ကရုဏာလည်းမည်သည်။ ဤသို့သော ကုရ်အာန်ကျမ်းမြတ်ကိုပင်လျှင် အသင်တို့နာခံရန် အသင့်မရှိကြပါပဲလျက် မိမိတို့ တောင်းဆိုသော တန်ခိုး ပြာဋိဟာများကို တွေ့မြင်ကြသည့်အခါ နာခံကြပါမည် ဟုဆိုခြင်းမှာ အသို့လျှင် ဖြစ်နိုင်အံ့နည်း။

(၁) ( وَإِذَا قُرِئَ الْقُرْآنُ فَاسْتَمِعُوا لَهُ وَأَنصِتُوا )ဟူသော မုကဒ္ဒပါဠ်တော်၏ ထင်ရှားသည့်အလိုသဘောမှာ ဆွလာတ်အတွင်း၌ဖြစ်စေ၊ အပြင်၌ဖြစ်စေ၊ ကုရ်အာန်ကျမ်းမြတ် ရွတ်ဖတ်သည့်အချိန်တွင် ဆိတ်ဆိတ်နေခြင်းနှင့် နားထောင်ခြင်းသည် "ဝါဂျစ်ဗ်" တာဝန်ဖြစ်သည်။ အခြားအဆိုတစ်ရပ်အရ (အစ္စလာမ် ထွန်းကားစအချိန်တွင်) လူများသည် ဆွလာတ်ဝတ်ပြုရာ၌ စကားပြောလေ့ရှိခဲ့ကြ၏။ ထိုအခါ ဤမုကဒ္ဒပါဠ်တော် ကျရောက်လာခဲ့လေသည်။ ထို့နောက် ဆွလာတ်အပြင်၌လည်း ကုရ်အာန်ကျမ်းမြတ် ရွတ်ဖတ်သည့် အခမ်းအနားများတွင် ဆိတ်ဆိတ်နေခြင်း သည် "စွန္နတ်" ဖြစ်လာလေသည်။ အခြားအဆိုတစ်ရပ်အရ ဤမုကဒ္ဒပါဠ်တော်၏ အလိုသဘောမှာ "အကယ်၍ တမန်တော်မြတ်သည် ကုရ်အာန်ကျရောက်သည့်အချိန်တွင် အသင်တို့ရှေ့မှောက်၌ ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်တော်မူသော် အသင်တို့သည် ထိုကျမ်းမြတ်ကို နားထောင်ကြ" ဟူ၏။ ➤➤

وَاذْكُرْ رَّبَّكَ فِيْ نَفْسِكَ
تَضَرُّعًا وَّخِيفَةً وَّدُوْنَ
الْجَهْرِ مِنَ الْقَوْلِ
بِالْغُدُوِّ وَالْاٰصَالِ وَلَا
تَكُنْ مِّنَ الْغٰفِلِيْنَ ﴿٢٠٥﴾

၂၀၅။ ထိုမှတပါး (အို-နဗီတမန်တော်)အသင်သည် *နံနက်မိုးသောက်ယံ၌လည်းကောင်း၊ ညနေချမ်း၌လည်းကောင်း၊* [1] မိမိကို ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်အား မိမိစိတ်နှလုံးတွင်းဝယ် နိဝါတတရားထားရှိ၍ ကြောက်ရွံ့ရိုသေလျက် ကျယ်လောင်စွာမဟုတ်သည့်အသံဖြင့် အောက်မေ့တသ သတိရပါလေ။ ထို့ပြင် အသင်သည် *အလေးမမူဂရုမပြု ပမာမထားသောသူတို့တွင် အပါအဝင်မဖြစ်ပါလင့်။* [2]

---

➤➤ အခြားအဆိုတရပ်အရ "အသင်တို့သည် ထိုကျမ်းမြတ်ကို နားထောင်ကြ" ဟူသည် ထိုကျမ်းမြတ်လာ အမိန့်ပညတ်တော်များနှင့်အညီ လိုက်နာကျင့်သုံးကြ။ ထိုကျမ်းမြတ်ကို မကျူးလွန်ကျကုန်လင့်"ဟူ၏။

တရားဓမ္မတို့၏ ဘဏ္ဍာတိုက်ဖြစ်သော အဖိုးမဖြတ်နိုင်သော ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်သရဇ္ဈာယ်သည့်အခါ ကြားသူအပေါင်းတို့သည် အထူးအလေးဂရုပြု၍ နားသောတဆင်ကြရမည်။ ကုရ်အာန်ကျမ်းလာ တရားဒေသနာတော်များကို လက်ခံနာယူလိုသည့်သဘောဖြင့် နားထောင်ကြရမည်။ ကုရ်အာန်ကျမ်းမြတ်ရွတ်ဖတ်သရဇ္ဈာယ်သည့်အချိန်တွင် မည်သည့်စကားကိုမျှ မပြောမဆိုကြရ။ အခြားတစ်စုံတစ်ရာ တွေးတောခြင်းအလျင်းမပြုကြရ။ ဆူညံမှုလည်း အလျင်းမပြုကြရ။ ဆိတ်ငြိမ်စွာဖြင့် နားထောင်ကြရမည်။ သို့မှသာလျှင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို ခံစားကြရမည်ဖြစ်သည်။ အကယ်၍ ဖော်ပြပါစည်းကမ်းချက်နှင့်အညီ ကုရ်အာန်ကျမ်းမြတ်ကို ကာဖိရ်များပင် နားထောင်ကြလျှင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော် အဟုန်ဖြင့် မုအ်မင်န်များ ဖြစ်လာနိုင်ကြပေသည်။ အကယ်၍ အစကနဦးကပင် မုအ်မင်န်ဖြစ်နေကြပါလျှင် "ဝလီ" သူတော်စင်များပင် ဖြစ်လာနိုင်ကြလေသည်။ အနည်းဆုံးထိုသို့ နားထောင်ခြင်း၏ ကုသိုလ်အကျိုးကိုကား ရရှိကြမည်ဖြစ်သည်။

ဤသည့် မုက္ခပါဌ်တော်ကို အထောက်အထားပြုပြီးလျှင် များစွာသော "အာလင်မ်" ပညာရှင်များက ဆွလာတ်အတွင်း "အီမာမ်" က ကုရ်အာန်ရွတ်ဖတ်သည့်အခါ "မုက်တဒီ" နောက်လိုက်များသည် လုံးဝဆိတ်ငြိမ်စွာ နေကြရမည်ဟု ဓမ္မသတ်အဆုံးအဖြတ် ပေးကြသည်။

① "ကုရ်အာန်ကျမ်းမြတ် (၃း၄၀)တွင်လည်းကောင်း၊ (၇း၂၀၅)တွင်လည်းကောင်း၊ (၁၉း၁၁)တွင်လည်းကောင်း၊ (၃၃း၄၂)တွင်လည်းကောင်း၊ (၄၀း၅၅)တွင်လည်းကောင်း၊ (၄၈း၉)တွင်လည်းကောင်း၊ (၇၆း၂၅)တွင်လည်းကောင်း၊ နံနက်မိုးသောက်ယံနှင့် ညနေချမ်းအချိန်များ၌ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရရန် မိန့်ဆိုထားတော်မူသည်ကို တွေ့ရှိရပေသည်။ ဤအချိန် ၂-ချိန်ကို အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသရန်အတွက် သတ်မှတ်ထားတော်မူခြင်းမှာ ထိုအချိန် ၂-ချိန်သည် နေ့၏အစွန်း ၂-ဖက်၌ရှိသော အချိန်များ ဖြစ်ခြင်းကြောင့်ဖြစ်သည်။ အကြင်သူတဦးသည် နေ့၏အစပိုင်းတွင်လည်းကောင်း၊ အဆုံးပိုင်းတွင်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရခဲ့သည်ရှိသော် ထိုသူသည် ကျန်အချိန်ပိုင်းများတွင် ထိုအရှင်မြတ်အား ပိုမို၍ပင် အောက်မေ့တသသတိရရန် သင့်ပေသည်။



إِنَّ ٱلَّذِينَ عِندَ رَبِّكَ لَا يَسْتَكْبِرُونَ عَنْ عِبَادَتِهِۦ وَيُسَبِّحُونَهُۥ وَلَهُۥ يَسْجُدُونَ ۩ ٢٠٦

၂၀၆။ ဧကန်မလွဲ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အပါးတော်၌ရှိသူ (မလာအိကဟ်) အပါးတော်စေတမန်တို့သည် ထိုအရှင်မြတ်အား ခဝပ်ခြင်းကို မပြုဘဲ မာန်မာန ထောင်လွှားကြသည်မဟုတ်ချေ။ ထို့ပြင် ၎င်းတို့သည် ထိုအရှင်မြတ် သန့်ရှင်းစင်ကြယ်တော်မူကြောင်းကို မြွက်ဆိုကြသည့်ပြင်၊ ၎င်းတို့သည် *ထိုအရှင်မြတ်အားသာလျှင် ပျပ်ဝပ် ဦးချ၍ နေကြကုန်သတည်း။* ၁

➤➤ ထို့ပြင်တ၀ နေ့၏အစပိုင်းတွင် "ဆွလာတုလ်ဖဂျ်ရ်" ရှိသည်။ အဆုံးပိုင်းတွင် "ဆွလာတုလ်အဆ်ရ်" ရှိသည်။ ထိုဆွလာတ် ၂-ချိန်တွင် ညဥ့်၏ ကောင်းကင်တမန်များနှင့် နေ့၏ ကောင်းကင်တမန်များသည် ရောက်ရှိဆုံမိကြသည်။ ၎င်းနောက် အလ္လာဟ်အရှင်မြတ်၏ ထံတော်တွင် မိမိတို့တွေ့ရှိခဲ့ကြသော ကျွန်များ၏ အဖြစ်အပျက်များကို အသီးသီးအစီရင်ခံကြသည်။ (ဗုခါရီ ကျမ်းတွင် ဤအတိုင်းလာ ရှိသည်)။ ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့်လည်း နံနက်မိုးသောက်ယံနှင့် ညနေချမ်းအချိန်များသည် အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရရန် ပိုမိုသင့်မြတ်ကြောင်း သိရှိနိုင်ပေသည်။ (အလ်မနာရ်ကို မှီးသည်)

(၂) အထက်တွင် ကုရ်အာန်ကျမ်းမြတ် ရွတ်ဖတ်သရဇ္ဈာယ်၍ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရခြင်းအကြောင်းနှင့် သက်ဆိုင်ရာ စည်းကမ်းချက်များကို မိန့်ဆိုထားတော်မူသည်။ ဤမုက္ခပါဌ်တော်တွင် ယေဘုယျအားဖြင့် အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရခြင်းနှင့် သက်ဆိုင်ရာ စည်းကမ်းချက်များကို မိန့်ဆိုထားတော်မူသည်။

အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ, သတိရခြင်း၏ အဓိကအချက်မှာ နှုတ်လျှာမှရွတ်ဆိုသည်များကို စိတ်တွင်းမှလည်းအာရုံစူးစိုက်ရမည်။ သို့မှသာလျှင် အောက်မေ့တသ သတိရခြင်း၏အကျိုးကို အပြည့်အစုံ ရရှိပေမည်။ ကိုယ်စိတ်နှလုံး သုံးပါးလုံးတို့သည် အလ္လာဟ်အရှင်မြတ်အား အောက်မေ့ တသ, သတိရရာတွင် အတူတကွ ပါဝင်ကြရမည်။ အောက်မေ့တသသည့်အချိန်တွင် စိတ်တွင် နူးညံ့သိမ်မွေ့မှုရှိစေရမည်။ မှန်ကန်သော ဆန္ဒ၊ မှန်ကန်သောကြောက်ရွံ့မှုဖြင့် အလ္လာဟ်အရှင်မြတ်အား ပန်ကြားရမည်။ အလ္လာဟ်အရှင်မြတ်အား အောက်မေ့ တသ,သူ၏အသံတွင်လည်းကောင်း၊ ပုံပန်းသဏ္ဌာန်တွင်လည်းကောင်း၊ ကျိုးနွံခြင်း၊ ရိုသေခန့်ညားခြင်း၊ ကြောက်ရွံ့ခြင်းများ၏ အမူအရာများဖြစ်ပေါ်၍ နေစေရမည်။ အလ္လာဟ်အရှင်မြတ်၏တန်ခိုးတော်၊ ဂုဏ်တော်များ၏ အရှိန်အဝါဖြင့် အောက်မေ့တသ,သူ၏အသံသည် သဘာဝအလျောက် နိမ့်ကျ၍သွားပေမည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၂၀း၁၀၈)တွင်လည်း မိန့်ဆိုထားတော်မူသည်။ အသံကျယ်လောင်စွာဖြင့် ဟစ်အော်တသခြင်းကို မြစ်တားထားတော်မူသည်။ တီးတိုးစွာဖြစ်စေ၊ အသံထုတ်၍ဖြစ်စေ၊ ဖြည်းညှဉ်းသာယာစွာဖြင့်သာလျှင် အလ္လာဟ်အရှင်မြတ်အား တသ,ရမည်။ ယင်းသို့တသလျှင် အလ္လာဟ်အရှင်မြတ်လည်း သတိရတော်မူမည် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသသူများအဖို့ ဤသည့် ကျေးဇူးတော်ထက် ကောင်းမွန်မြင့်မြတ်သောအရာ အဘယ်မှာရှိနိုင်အံ့နည်း။

(၁) အလ္လာဟ် အရှင်မြတ်၏ထံတော်ပါး၌ ရှိကြကုန်သော ကောင်းကင်တမန်များသည် ပင်လျှင် ထို ➤➤

➤➤ အရှင်မြတ်အား ခယရိုကျိုး ရှိခိုးလျက် ရှိကြကုန်၏။ ထိုအရှင်မြတ်အား ခဝပ်ကိုးကွယ်ခြင်းကိုမပြုပဲ စောင်းမာန်တက်ကြွ မာန်မာရှေ့ထားပလွှား၍ နေကြသည်မရှိချေ။ ထိုအရှင်မြတ် သန့်ရှင်းစင်ကြယ်တော်မူကြောင်းကို မြွက်ဆိုကြကုန်၏။ ထိုအရှင်မြတ်အား ဦးချလျက်ရှိကြကုန်၏။ သို့ဖြစ်ပေရာ လူသားတို့သည် ထိုအရှင်မြတ်အား ပိုမို၍ပင် ခယရိုကျိုး ရှိခိုးကြရမည်။ ထိုအရှင်မြတ်အား ပိုမို၍ အောက်မေ့တသ သတိရကြရမည်။ ထိုအရှင်မြတ်အား ပိုမို၍ ဦးချကြရမည်။

**ဤမုကဒ္ဒပါဌ်တော်သည် ကုရ်အာန်ကျမ်းမြတ်တွင် ပထမ အာယတ်စဂျ်ဒဟ် ဖြစ်သည်။**

ဤမုကဒ္ဒပါဌ်တော်ကို ရွတ်ဖတ်သရဇ္ဈာယ်သည့် အခါတွင်လည်းကောင်း၊ ကြားနာသည့်အခါတွင်လည်းကောင်း၊ "စဂျ်ဒဟ်တိလာဝါဟ်" ပြုလုပ်ကြရမည်။ စဂျ်ဒဟ်တိလာဝါတ်သည် "ဝါဂျစ်ဗ်" ဖြစ်သည်။

ကုရ်အာန်ကျမ်းမြတ်တွင် "စဂျ်ဒဟ် တိလာဝါတ်" ပြုလုပ်ရန် မုကဒ္ဒပါဌ်တော်(၁၄)ပါးရှိသည်။ အဆိုတရပ်အရ မုကဒ္ဒပါဌ်တော်(၁၅)ပါးရှိသည်။ အဆိုပြားသော မုကဒ္ဒပါဌ်တော်မှာ "ဟဂျ်" ကဏ္ဍတွင် ပါရှိသည့် စဂျ်ဒဟ်အာယတ်ဖြစ်သော မုကဒ္ဒပါဌ်တော် ၂-ပါးအနက် ဒုတိယ မုကဒ္ဒပါဌ်တော် (၂၂း၇၇)ဖြစ်သည်။

"စဂျ်ဒဟ် တိလာဝါတ်" ပြုရမည့် မုကဒ္ဒပါဌ်တော်များမှာ အောက်ပါအတိုင်းဖြစ်သည်။

| | |
|---|---|
| (၁) ၇း၂၀၆။ | (၂) ၁၃း၁၅။ |
| (၃) ၁၆း၅၀။ | (၄) ၁၇း၁၀၉။ |
| (၅) ၁၉း၅၈။ | (၆) ၂၂း၁၈။ |
| (၇) ၂၅း၆၀။ | (၈) ၂၇း၂၆။ |
| (၉) ၃၂း၁၅။ | (၁၀) ၃၈း၂၄။ |
| (၁၁) ၄၁း၃၈။ | (၁၂) ၅၃း၆၂။ |
| (၁၃) ၈၄း၂၁။ | (၁၄) ၉၆း၁၉။ |

"စဂျ်ဒဟ်တိလာဝါတ်" နှင့် ပတ်သက်၍ အကျယ်ကို "ဟိဒါယတ်" ကျမ်းစဂျ်ဒဟ် တိလာဝါတ် အခန်း၊ ပထမတွဲ စာမျက်နှာ (၁၄၃)တွင် ရှုပါကုန်။

တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံမှ တဆင့် ကြားသိရသည်မှာ - အကြင်သူသည် အအ်ရာဖ်ကဏ္ဍကို ရွတ်ဖတ်အံ့။ အလ္လာဟ်အရှင်မြတ်သည် ကိယာမတ်နေ့တွင် ထိုသူနှင့် အီဗ်လီစ်၏စပ်ကြား၌ အကာအကွယ်တခု ပြုပေးတော်မူအံ့။ ထို့ပြင်တဝ ကိယာမတ်နေ့တွင် ဖခင်ကြီး အာဒမ်(အလိုင်ဟစ္စလာမ်)သည် ထိုသူ့အတွက် အသနားခံပေးအံ့။

တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံမှ တဆင့် ကြားသိရသည်မှာ မည်သည့်အခါ အာဒမ်၏သားသမီးသည် "စဂျ်ဒဟ်" ဦးချခြင်းနှင့် ပတ်သက်သည့် မုကဒ္ဒပါဌ်တော်ကို ရွတ်ဖတ်၍ စဂျ်ဒဟ်ဦးချလျှင် ရှိုင်တွာန်သည် ဘေးသို့ ထွက်ခွာသွားပြီးလျှင် ငိုကြွေး၍ ဤသို့ပြောဆိုလေသည်။ "သြော် . . . ပျက်စီးရလေခြင်း၊ ဤသူသည် ဦးချရန်အမိန့်တော်ရသည့်အခါ ဦးချခဲ့လေသည်။ သို့ဖြစ်ရာ ၎င်းအဖို့ ဂျန္နတ်ဖြစ်လေပြီ။ ငါကား ဦးချရန်အမိန့်တော်ရရှိပြီးသောအခါ အမိန့်တော်ကို သွေဖည်ခဲ့လေသည်။ သို့ဖြစ်ရာ ငါ့အဖို့ငရဲမီး ဖြစ်လေပြီတကား။ ( ဒုရ်ရိမန်ဆူရ် )။

## လက်ရပစ္စည်းများကဏ္ဍ



بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

အစဉ်မပြတ် သနားကြင်နာတော်မူသောထသော
အနန္တကရုဏာရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့်
(အစပြုပါ၏)။

يَسْـَٔلُونَكَ عَنِ الْأَنفَالِ قُلِ الْأَنفَالُ لِلَّهِ وَالرَّسُولِ فَاتَّقُوا اللَّهَ وَأَصْلِحُوا ذَاتَ بَيْنِكُمْ وَأَطِيعُوا اللَّهَ وَرَسُولَهُ إِن كُنتُم مُّؤْمِنِينَ ①

၁။ (အို-နဗီတမန်တော်)၎င်းတို့သည် အသင့်အား (စစ်မက် တိုက်ခိုက်ရာ၌ ရရှိသော) လက်ရပစ္စည်း *တို့နှင့် စပ်လျဉ်း၍ မေးမြန်းကြကုန်သည်။* [၁] အသင် သည် (၎င်းတို့အား ဤသို့)ဖြေကြားပါလေ။ ("အို-ငါ၏တပည့်သာဝကအပေါင်းတို့) လက်ရပစ္စည်းတို့ သည်(စင်စစ်အားဖြင့်) *အလ္လာဟ်အရှင်မြတ်နှင့် ရစူလ် တမန်တော်ပိုင်ဆိုင်တော်မူသော ပစ္စည်းများပင်တည်း။* [၂] သို့ဖြစ်ပေရာ အသင်သည် *အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။* [၃] ၎င်းပြင်အသင်သည် မိမိ တို့အချင်းချင်း၏ အခြေအနေကို ပြုပြင်ကြလေကုန်။ ထိုမှတပါး အသင်သည် အကယ်၍ "မုအ်မင်န်" သက်ဝင် ယုံကြည်သူများ ဖြစ်ကြပါလျှင်၊ အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်များကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်၏ အမိန့်တော် များကို လည်းကောင်း၊ လိုက်နာကြလေကုန်။

---

(၁) "ဗဒ်ရ်" စစ်ပွဲ၏ လက်ရပစ္စည်းများနှင့် ပတ်သက်၍ မွတ်စ်လင်မ်များတွင် သဘောကွဲပြားမှုဖြစ်ပေါ်ခဲ့သည်။ ထိုအခါ မွတ်စ်လင်မ်များက တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား "ကျွန်ုပ်တို့သည် မည်သို့မည်ပုံ ခွဲဝေကြရမည်နည်း ထိုလက်ရပစ္စည်းများကို ခွဲဝေရေးတွင် မည်သူ့၌ အာဏာရှိပါသနည်း" ဟု မေးမြန်းကြလေသည်။

"နဖလ်"ဟူသည် ရန်သူ့ထံမှရရှိသော မခွဲဝေရသေးသော လက်ရပစ္စည်းကိုဆိုလိုသည်။(ရာဃိဗ်)

သို့ရာတွင် ယင်းပုဒ်သည် "ဃနီမတ်" လက်ရပစ္စည်းအနက်၌ ချွင်းချက်မရှိ အသုံးဖြစ်လာခဲ့ချေသည်။

"အန်ဖာလ်" ဟူသည် "ဃနာအင်မ်" လက်ရပစ္စည်းများကို ဆိုလိုသည်။ ဤသည် အီဗ်နအဗ္ဗာစ်၊ မုဂျာဟစ်ဒ်၊ သွဟ်ဟာက်၊ ကတာဒဟ်၊ ဣက်ရမဟ်နှင့် အတ္တာတို့၏အဆိုတည်း။

(၂) လက်ရပစ္စည်းများကို အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်သာလျှင် ပိုင်ဆိုင်တော်မူကြသည်"။ ဤသည့် ဒေသနာတော်ကို ထောက်ရှုခြင်းအားဖြင့် လက်ရပစ္စည်းများကို အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်သာလျှင် ပိုင်ဆိုင်ကြောင်း၊ နှစ်ခြိုက်သည့်အတိုင်း ခွဲဝေသုံးစွဲပိုင်ကြောင်း ကောင်းစွာသိရှိရပေသည်။ ထို့ပြင်တဝ ဤသည့်ဒေသနာတော်ကို ထောက်ရှုခြင်းအားဖြင့် လက်ရပစ္စည်းများကို ဃာဇီများ၊ မုဂျာဟစ်ဒ်များ၊ မပိုင်ဆိုင်ကြောင်း ၎င်းတို့၏ကုသိုလ်အကျိုးများမှာ ဂျန္နတ်နှင့် ဂျန္နတ်၏ အမတသုခများသာ ဖြစ်ကြောင်း၊ ၎င်းတို့သည် လက်ရပစ္စည်းများကို မျှော်မှန်း၍ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ကြသည် အလျင်း မဟုတ်ကြောင်းကိုလည်း ကောင်းစွာသိရှိရပေသည်။

အစ္စလာမ်သာသနာ မထွန်းကားမီအလျင် ကမ္ဘာတွင် တန်ခိုးအာဏာကြီးမားသော အစိုးရများ ဖြစ်ပေါ်ခဲ့ဖူး၏။ အလွန်ကြီးကျယ်သော စစ်ပွဲကြီးများလည်း ဖြစ်ပွားခဲ့ဖူး၏။ အီဂျစ်၊ အိန္ဒိယ၊ အီရာန်၊ ယူနာန်(ခေါမ) ရောမ အစရှိသည့် နိုင်ငံကြီးများတွင် နိုင်ငံရေး ခေါင်းဆောင်ကြီးများ၊ စီးပွားရေးပါရဂူများ၊ ထွန်းကားခဲ့ဖူး၏။ ထိုထိုသော ခေါင်းဆောင်များနှင့် ပါရဂူများသည်လည်း လက်ရပစ္စည်းများနှင့် ပတ်သက်၍ အမျိုးမျိုးသော ထုံးတမ်းစဉ်လာများကို ချမှတ်ခဲ့ကြဖူး၏။ သို့ရာတွင် ကုရ်အာန်ကျမ်းမြတ်သည် ကမ္ဘာပေါ်တွင် ဦးစွာပထမ လက်ရပစ္စည်းများနှင့် ပတ်သက်၍ ယင်းပစ္စည်းများကို ဘုရင်လည်းမပိုင်ဆိုင်ကြောင်း၊ စစ်ဗိုလ်များနှင့် စစ်သားများလည်း မပိုင်ဆိုင်ကြောင်း၊ တိုင်းပြည်နှင့်လူမျိုးလည်း မပိုင်ဆိုင်ကြောင်း၊ အမှန်စင်စစ် အလ္လာဟ် အရှင်မြတ်သာလျှင် ပိုင်ဆိုင်တော်မူကြောင်း၊ အတည့်အလင်း ကျေညာခဲ့လေသည်။ ဃာဇီများ၊ မုဂျာဟစ်ဒ်များ၊ စစ်သည်များ၊ စစ်ဗိုလ်များ၏စိတ်စေတနာ သဒ္ဓါတရားကို ဖြူစင်သန့်ရှင်းစေရန်အတွက် ဤသည်ထက်ကောင်းသော အချက်သည် အဘယ်မှာရှိနိုင်အံ့နည်း။

အလ္လာဟ်အရှင်မြတ်သည် သက်ရှိသက်မဲ့ ကမ္ဘာ့အဝှန်းကို ဖန်ဆင်းတော်မူသောအရှင်၊ ပြုစု ပျိုးထောင်တော်မူသောအရှင်၊ အရာရာကို ပိုင်ဆိုင်တော်မူသောအရှင် ဖြစ်တော်မူ၏။ အစ္စလာမ်သာသနာတော်အရ ဥပဒေစည်းမျဉ်းဟူသည် ထိုအရှင်မြတ်၏ ဥပဒေစည်းမျဉ်းပင်ဖြစ်၏။ အကြီးဆုံးသော အာဏာသည်လည်း ထိုအရှင်မြတ်၌ပင် တည်ရှိသည်။ ထိုအရှင်မြတ်သည် အရာရာကို ပိုင်ဆိုင်တော်မူသကဲ့သို့ ရန်သူများထံမှ ရရှိသော လက်ရပစ္စည်းများကိုလည်း ထိုအရှင်မြတ်သည်ပင် ပိုင်ဆိုင်တော်မူသည်။

**ဖော်ပြချက်**

ဤမုကဒ္ဒပါဌ်တော်တွင် အလ္လာဟ်အရှင်မြတ်၏ နာမံတော်နှင့်ပူးတွဲ၍ တမန်တော်မြတ်၏ အမည်ကို လည်း ဒွန်တွဲ သုံးနှုန်းထားတော်မူသည်။ ယင်းသို့ ဒွန်တွဲ သုံးနှုန်းထားတော်မူခြင်းအကြောင်းမှာ ထိုအရှင်မြတ်၏ အမိန့်ပညတ်တော်များကို ထိုတမန်တော်မြတ်မှတဆင့် ကမ္ဘာသူကမ္ဘာသားတို့အား ဟောကြားတော်မူသည်ဖြစ်ရာ ထိုတမန်တော်မြတ်သည် ထိုအရှင်မြတ်၏ ကိုယ်စားလှယ်တော်ဖြစ်ခြင်းကြောင့်ပင် ဖြစ်ပေသည်။

(၃) အရေးကိစ္စအဝဝတွင် အလ္လာအရှင်မြတ်အား အမြဲတစေ ကြောက်ရွံ့ရိုသေ ခန့်ညားရမည်။ လောကီစည်းစိမ် များကို မမက်မောကြရ။ နောင်တမလွန် အရေးကိုသာ ရှေ့ရှုရမည်။ အချင်းချင်း တဦးထက်တဦး သာလိုမှု၊ ကြီးကဲလိုမှု၊ ပိုမိုရလိုမှုများ ပပျောက်သွားသည့်တိုင်အောင် အချင်းချင်း ဖြစ်ပွားသော ကိစ္စများကို ထိန်းသိမ်းရမည်။ မွမ်းမံရမည်၊ ပြုပြင်ရမည်၊ လူသားတို့၏ အခွင့်အရေးများကို အတည်အကျ အပြည့်အဝ ထမ်းဆောင်ရမည်။ တနည်းအားဖြင့် ဤမုကဒ္ဒပါဌ်တော်တွင် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်သော တာဝန်များနှင့် လူသားတို့နှင့် ပတ်သက်သော တာဝန်များကို ကျေပွန်စွာ ထမ်းဆောင်ရမည့်အကြောင်း မိန့်ဆိုထားတော်မူခြင်းပင်ဖြစ်သည်။

ကြည့်-မာဂျိဒီ။

إِنَّمَا الْمُؤْمِنُونَ الَّذِينَ إِذَا ذُكِرَ اللَّهُ وَجِلَتْ قُلُوبُهُمْ وَإِذَا تُلِيَتْ عَلَيْهِمْ آيَاتُهُ زَادَتْهُمْ إِيمَانًا وَعَلَىٰ رَبِّهِمْ يَتَوَكَّلُونَ ۝٢

၂။ အကြင်သူတို့ သည်သာလျှင် "မုအ်မင်န်" သက်ဝင်ယုံကြည်သူ (အစစ်အမှန်များ) ဖြစ်ကြကုန်၏။ (၎င်းတို့ရှေ့ဝယ်) အလ္လာဟ် အရှင်မြတ်အား သတိရခဲ့လျှင်၊၎င်းတို့၏စိတ်နှလုံးများသည် ထိတ်လန့်သွားကြကုန်၏။ ထို့ပြင် အကယ်၍ ၎င်းတို့ရှေ့၌ ထိုအရှင်မြတ်၏အာယတ်တော်များကို ဖတ်ကြားခဲ့ပါမူ၊ ထိုအာယတ်တော်များသည် ၎င်းတို့၏ "အီမာန်" သက်ဝင်ယုံကြည်မှုကို တိုးပွားခိုင်မြဲစေကြကုန်၏။ ထိုမှတပါး ၎င်းတို့သည်(မိမိတို့၏ကိစ္စအဝဝ၌) မိမိတို့အား *ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အပေါ်၌ပင် ယုံကြည်စိတ်ချလွှဲအပ်ကြကုန်သတည်း။* [၁]

الَّذِينَ يُقِيمُونَ الصَّلَاةَ وَمِمَّا رَزَقْنَاهُمْ يُنْفِقُونَ ۝٣

၃။ အကြင်သူတို့သည် "ဆွလာတ်" ဝတ်ပြုမှုကို အမြဲမပြတ် ဆောက်တည်ကြကုန်၏။ ထို့ပြင် ၎င်းတို့အား ငါအရှင်မြတ် ချီးမြှင့်ပေးသနားတော်မူသည်များအနက်မှ (လှူဒါန်း)သုံးစွဲကြကုန်သတည်း။

---

(၁) ပြည့်ဝစုံလင်သော မွတ်စ်လင်မ်များသည် အရေးကိစ္စအဝဝတွင် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားကြသည်။ အချင်းချင်းပြေပြစ်စွာ ပေါင်းသင်းဆက်ဆံကြသည်။ သာမန်ကိစ္စလေးများနှင့်ပတ်သက်၍ ရန်ခိုက်ဒေါသမဖြစ်ကြ။ အငြင်းမပွားကြ။ မိမိတို့၏ စိတ်အလိုဆန္ဒများကို ပစ်ပယ်၍ အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ တမန်တော်မြတ် အမိန့်ဩဝါဒများကို နာခံကြသည်။ အလ္လာဟ်အရှင်မြတ်၏ နာမံတော်ကို ကြားကြလျှင် ၎င်းတို့သည်တုန်လှုပ်သွားကြသည်။ အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို ကြားနာကြသည့်အခါ ၎င်းတို့၏ "အီမာန်" ယုံကြည်မှုသည် ပိုမို၍ပင် ရင့်ကျက် ခိုင်မြဲ၍သွားပေသည်။ ယင်းသို့ ခိုင်မြဲမှုကြောင့်ပင် အရေးကိစ္စအဝဝတွင် အလ္လာဟ်အရှင်မြတ်မှတပါး မည်သည့်အရာကိုမျှ အားကိုးအားထားမပြုကြပေ။ ထိုအရှင်မြတ်အားသာလျှင် ယုံကြည်စိတ်ချ လွှဲအပ်ထားကြသည်။ ထိုအရှင်မြတ်အားသာလျှင် ခယရိုကျိုးရှိခိုးကြသည်။ ထိုအရှင်မြတ်၏လမ်းတော်၌သာ မိမိတို့၏ဥစ္စာပစ္စည်းများကို ပေးကမ်းလှူဒါန်းကြသည်။ အချုပ်မှာ ပြည့်ဝစုံလင်သော မွတ်စ်လင်မ်တို့သည် မိမိတို့၏ယုံကြည်မှုဖြင့်လည်းကောင်း၊ အကျင့်စာရိတ္တဖြင့်လည်းကောင်း၊ အပြုအမူဖြင့်လည်းကောင်း၊ ဥစ္စာပစ္စည်းဖြင့်လည်းကောင်း၊ အားလုံးတို့ဖြင့် အလ္လာဟ်အရှင်မြတ်၏ နှစ်သက်တော် မူခြင်းကိုရရှိရန် ကြိုးစားလျက်ရှိကြကုန်သည်။ ဤသို့သော မွတ်စ်လင်မ်များသည်သာလျှင် မှန်ကန်သော ပြည့်ဝစုံလင်သော မွတ်စ်လင်မ် များဖြစ်ကြပေသည်။ ဤသို့သောမွတ်စ်လင်မ်များသည်သာ အလ္လာဟ်အရှင်မြတ်၏ အထံတော်၌ ကြီးကဲမြင့်မြတ်သော အဆင့်အတန်းများကိုရရှိကြမည်။ သာမန်ချို့တဲ့မှုများမှလည်း လွတ်ငြိမ်းချမ်းသာခွင့် ရရှိကြမည် ဖြစ်သည်။ ကောင်းမွန်မြင့်မြတ်သောရိက္ခာတော်များကိုလည်း ပေးသနားတော်မူခြင်းခံကြရမည်ဖြစ်သည်။

၄။ ဤသူများပင် "မုအ်မင်န်" သက်ဝင်ယုံကြည်သူ အစစ်အမှန်များ ဖြစ်ကြကုန်၏။ ၎င်းတို့အဖို့ ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်၌ (မြင့်မြတ်လှသော) အဆင့်အတန်းများသည် လည်းကောင်း၊ (အပြစ်များမှ) လွတ်ငြိမ်းချမ်းသာခွင့် သည်လည်းကောင်း၊ မင်္ဂလာနှင့်ပြည့်စုံသော (ဂုဏ်ရှိသော) ရိဇ္ဇကသည်လည်းကောင်း၊ ရှိချေသတည်း။

أُولَٰٓئِكَ هُمُ ٱلْمُؤْمِنُونَ حَقًّا ۚ لَّهُمْ دَرَجَٰتٌ عِندَ رَبِّهِمْ وَمَغْفِرَةٌ وَرِزْقٌ كَرِيمٌ ④

၅။ အသင့်အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်သည် မှန်ကန်စွာဆုံးဖြတ်၍ အသင့်ကို *အသင်၏အိမ်မှထွက်စေတော်မူသကဲ့သို့ပင်။* ① စင်စစ်သော်ကား (ထိုအချိန်ကလည်း) "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့အနက်မှ လူတစ်စုသည် (ယင်းသို့ထွက်ကြ ရသည်ကို) မနှစ်သက်မလိုလားခဲ့ကြချေ။

كَمَآ أَخْرَجَكَ رَبُّكَ مِنۢ بَيْتِكَ بِٱلْحَقِّ وَإِنَّ فَرِيقًا مِّنَ ٱلْمُؤْمِنِينَ لَكَٰرِهُونَ ⑤

---

① တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ မိမိ၏ နေရင်းဌာနဖြစ်သော မက္ကာမြို့တော်ကို စွန့်လွှတ်၍ မဒီနာမြို့တော်သို့ ရွှေ့ပြောင်း နေထိုင်တော်မူခဲ့သည်မှာ နှစ်နှစ်တွင်းသို့ ရောက်ရှိချေပြီ။ သို့တစေလည်း မက္ကာမြို့သားမုရှ်ရစ်က်များ၏ နှိပ်စက်ညှဉ်းပန်းမှုသည် ယခုထက်တိုင်ပင် တည်ရှိနေပေသေးသည်။ ထိုအချိန်တွင် ယင်းသို့ အဆက်မပြတ် ဒုက္ခပေးနေသောရန်သူ မုရှ်ရစ်က်တို့၏ ကုန်သည်တစ်စုသည် "အရှ်ရှမ်" ရွှေဒင်္ဂါး ငါးသောင်းတန် ကုန်ပစ္စည်းများကိုယူဆောင်၍ ဆီရီယနိုင်ငံမှ မက္ကာမြို့သို့ ပြန်လာနေကြောင်း၊ ထိုကုန်သည်တစ်စုကို မက္ကာမြို့သားကျော်ကြားသည့် ခေါင်းဆောင်တဦးဖြစ်သူ အဗူစုဖ်ယာန်က စီမံအုပ်ချုပ်ကြောင်း၊ ထိုကုန်သည်များသည် မဒီနာမြို့အနီးမှ ဖြတ်သွားကြမည်ဖြစ်ကြောင်း သတင်းရရှိလေသည်။
တမန်တော်မြတ်၏ တပည့်သာဝကများသည် နှစ်ပေါင်းများစွာကပင် ယင်းမုရှ်ရစ်က်တို့၏ နှိပ်စက်ညှဉ်းပန်းမှုများကို အလူးအလိမ့်ခံ၍ နေခဲ့ကြရပေသည်။ သို့ရှိရာ ယခုကဲ့သို့ အခါအခွင့်သင့်ခိုက် မုရှ်ရစ်က်တို့၏ ရေသောက်မြစ် ဖြတ်တောက်ရန် အချက်ကောင်းပင်ဖြစ်သည်ဟု အခြေအနေအရ မွတ်စ်လင်မ်တို့၏စိတ်တွင် အတွေးပေါ်၍ လာလေသည်။ (မက္ကာမြို့သည် ကောက်ပဲသီးနှံထွက်သော မြို့မဟုတ်ပေ။ မက္ကာမြို့သူမြို့သားများ၏ အသက်မွေးဝမ်းကျောင်းသည် တိုင်းတပါးနှင့် ကူးသန်းရောင်းဝယ် ဖောက်ကားမှုအပေါ်၌ပင် တည်ရှိနေပေသည်၊) ထိုအချိန်တွင် တမန်တော်မြတ်သည် တပည့်သာဝက(၃၁၃)ပါးတို့နှင့်အတူ မဒီနာမြို့မှထွက်တော်မူ၏။ ထို(၃၁၃)ပါးသော တပည့်သာဝကများသည် စနစ်တကျ လေ့ကျင့်ဖွဲ့စည်းထားသော စစ်တပ်လည်း မဟုတ်ပေ။ စစ်လက်နက်များ အပြည့်အစုံ တပ်ဆင်ထားသည်လည်းမရှိပေ။ သို့တစေလည်း တမန်တော်မြတ်သည် မိမိ၏ အံ့မဆုံးသော အရည်အချင်းဖြင့် ထို (၃၁၃)ပါးသော သာဝကတို့အား စနစ်တကျ စစ်တပ်ဖြစ်အောင် ➤➤

يُجَادِلُوْنَكَ فِي الْحَقِّ بَعْدَ مَا تَبَيَّنَ كَاَنَّمَا يُسَاقُوْنَ اِلَى الْمَوْتِ وَهُمْ يَنْظُرُوْنَ ۞

၆။ ၎င်းတို့သည် မှန်ကန်သော အကြောင်းတရားနှင့်စပ်လျဉ်း၍ ထိုမှန်ကန်သောအကြောင်းတရားသည် ထင်ရှားခဲ့ပြီးနောက် မိမိတို့သည် သေရာသို့မောင်းနှင်ခြင်းခံရ၍ (မရဏသေခြင်းတရားကို မျက်ဝါးထင်ထင်) မြင်နေကြရဘိ သကဲ့သို့ပင် အသင်နှင့် စကားငြင်းခုံ ပြောဆိုခဲ့ကြကုန်သတည်း။ ၁

---

➤➤ စီစဉ်တော်မူနိုင်ခဲ့လေသည်။ မွတ်စ်လင်မ်များထံတွင် အားလုံးပေါင်းမှ ကုလားအုတ်(၇၀)နှင့် မြင်း(၂)ကောင်သာ ပါရှိလေသည်။

ထိုသို့စီစဉ်နေသည့် အချိန်မှာပင် ဆီရိယနိုင်ငံမှပြန်လာသော မုရှ်ရစ်က်ကုန်သည်များသည် ဤသတင်းကို ရရှိသွားသည်ဖြစ်ရာ ယင်းကုန်သည်များသည် မိမိတို့အားကာကွယ်ရန်အတွက် မက္ကာမြို့သို့ လူလွှတ်၍ စစ်တပ်ကို ခေါ်စေသည်။ ထို့ပြင်တဝ ယင်းကုန်သည်များသည် သွားလာနေကျ ခရီးလမ်းကိုလွှတ်ပြီး၊ ပင်လယ်ကမ်းခြေမှ မက္ကာမြို့သို့ ပြန်ကြလေသည်။

မက္ကာမြို့အစိုးရ၏ ခေါင်းဆောင်ကြီးဖြစ်သော အဗူဂျဟလ်သည် ခေါင်းဆောင်ကြီးငယ်များနှင့်အတူ စစ်သည်(၉၅၀)ပါသော စစ်တပ်ကိုခေါ်၍ စိတ်အားတက်ကြွစွာဖြင့် မဒီနာမြို့သို့ ဦးတည်ကာ စစ်ချီတက်လာလေသည်။ "ဗဒ်ရ်" အမည်ရှိသောနေရာတွင် စစ်စခန်းချကြသည်။ "ဗဒ်ရ်"သည် မဒီနာမြို့၏ အနောက်တောင်ဘက် မိုင် (၂၀)တွင် တည်ရှိသည်။ ဤအဖြစ်အပျက်သည် ဟစ်ဂျရီသက္ကရာဇ် ၂-ခုနှစ်၊ ရမ်သွာန်လ၊ ၁၇-ရက်၊ သောကြာနေ့၊ ခရစ်သက္ကရာဇ် ၆၂၄-ခု၊ မတ်လ (၁၁)ရက်နေ့တွင် ဖြစ်ပေါ်ခဲ့လေသည်။

ထိုအချိန်တွင် အလ္လာဟ်အရှင်မြတ်ထံတော်မှ တမန်တော်မြတ်ထံသို့ ရန်သူမုရှ်ရစ်က်တို့၏ ကုန်သည်အုပ်စုနှင့် စစ်တပ်၊ ၎င်း ၂-ခုအနက် တခုကို မုချအောင်နိုင်မည်ဖြစ်ကြောင်း "ဝဟီ"ရောက်လာလေသည်။ "ဆွဟာဗတ်" သာဝကကြီးများကား ဝဟီရရှိသောပုဂ္ဂိုလ်များ မဟုတ်ကြပေရာ ဤသို့တွေးတောကြ၏။ ယခုငါတို့ ရင်ဆိုင်ရမည်မှာ ကုန်သည်အုပ်စု သို့မဟုတ် ငါတို့ထက် လက်နက်အင်အား စစ်သည်အင်အားထက် နှစ်ဆများပြားသော ရန်သူစစ်တပ်ဖြစ်သည်။ ထိုအခြေအနေတွင် မွတ်စ်လင်မ်တစ်စုသည် ရန်သူများနှင့် ရင်ဆိုင်ရမည့် အရေးတွင် သို့လော သို့လောဖြစ်ကာ စနောင့်စနင်း ဖြစ်လာခဲ့ကြလေသည်။ စိတ်ဓာတ်မတည်၊ ချောက်ချား၍ လာခဲ့ကြလေသည်။ ယင်းသို့ အချို့မွတ်စ်လင်မ်များ စနောင့်စနင်းဖြစ်သည့်အတွက် တမန်တော်မြတ်သည် စိတ်မကောင်းဖြစ်မိတော်မူလေသည်။ သို့ရာတွင် ထိုအချိန်မှာပင် "မုဟာဂျစ်ရ်" သာဝကကြီးများအနက် အဗူဗတ်က်ရ်၊ အုမ်ရ်တို့ကလည်းကောင်း၊ "အန်ဆွာရ်" သာဝကကြီးများအနက်မှ "အောက်စ်"မျိုးနွယ်စု၏ခေါင်းဆောင်ကြီး စအဒ်ကလည်းကောင်း၊ အမိန့်တော်နာခံပါမည့်အကြောင်း စိတ်အားထက်သန်စွာဖြင့် အသီးသီးထ၍ လျှောက်ထား ပြောဆို အစီရင်ခံကြလေသည်။ ထိုအခါ တမန်တော်မြတ်သည် "ဗဒ်ရ်" သို့ ချီတက်သွားတော်မူလေသည်။ ကုရ်အာန်ကျမ်းမြတ် (၈း၅-၈)တွင် ဤသည့်ဖြစ်ရပ်များကို ရည်ညွှန်း၍ မိန့်ဆိုထားတော်မူသည်။

(၁) "ဗဒ်ရ်" စစ်ပွဲတွင် မွတ်စ်လင်မ်စစ်သည်ဦးရေမှာ (၃၁၃)ဦးမျှဖြစ်သည်။ ၎င်းတို့၌လည်း စစ်လက်နက်၊ စားနပ်ရိက္ခာမပြည့်စုံ၊ ရန်သူစစ်သည်ဦးရေမှာ (၉၅၀)ဖြစ်သည်။ လက်နက်၊ စားနပ်ရိက္ခာလည်း အပြည့်အစုံပါသည်။ ယင်းသို့ စစ်သည်ဦးရေ၊ လက်နက်၊ စားနပ်ရိက္ခာ အလွန်တရာမျှ ကွာခြားနေသည့်အချိန်မျိုးတွင် ➤➤

وَاِذْ يَعِدُكُمُ اللّٰهُ اِحْدَى الطَّآىِٕفَتَيْنِ اَنَّهَا لَكُمْ وَتَوَدُّوْنَ اَنَّ غَيْرَ ذَاتِ الشَّوْكَةِ تَكُوْنُ لَكُمْ وَيُرِيْدُ اللّٰهُ اَنْ يُّحِقَّ الْحَقَّ بِكَلِمٰتِهٖ وَيَقْطَعَ دَابِرَ الْكٰفِرِيْنَ ⑦

၇။ ၎င်းပြင် (ပြန်လည်၍ သတိရကြလေကုန်) အကြင်အခါဝယ် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား အုပ်စု နှစ်စုအနက် တစုနှင့်ပတ်သက်၍ ထိုတစုသည် အသင်တို့၏လက်တွင်းသို့ အမှန်ပင် ကျရောက်လိမ့်မည်ဟု ကတိပြုလျက် ရှိတော်မူခဲ့လေသည်။ သို့ရာတွင် အသင်တို့မူကား ဆူးငြောင့် (ဝါ) လက်နက်မပါသော အုပ်စုသည်သာလျှင် မိမိတို့လက်တွင်းသို့ ကျရောက်ရန် မျှော်ခေါ်တောင့်တလျက်ရှိကြကုန်၏။ စင်စစ်မူကား အလ္လာဟ်အရှင်မြတ်သည် အမှန်ကို မိမိအမိန့်တော်များဖြင့် ထင်ရှားတော်မူရန်လည်းကောင်း၊ *ကာဖိရ် သွေဖည်ငြင်းပယ်သော သူတို့၏အခြေအမြစ်ကို (လုံးဝ) ဖြတ်တောက်ပစ်တော်မူရန်* ① လည်းကောင်း၊ ရည်စူးတော်မူချေသတည်း။

لِيُحِقَّ الْحَقَّ وَيُبْطِلَ الْبَاطِلَ وَلَوْ كَرِهَ الْمُجْرِمُوْنَ ⑧

၈။ (သို့ ရည်စူးတော်မူခြင်းကား) အပြစ်ရှိသူတို့သည် နှစ်သက်ကြမည် မဟုတ်သော်လည်း အမှန်သည် အမှန်ပင်ဖြစ်ကြောင်း ထင်ရှားစေရန်လည်းကောင်း၊ အမှားသည် အမှားပင်ဖြစ်ကြောင်း ထင်ရှားစေရန်လည်းကောင်း၊ ဖြစ်ပေသတည်း။

➤➤ အချို့မွတ်စ်လင်မ်စစ်သည်များ၏ စိုးရိမ်မှု၊ စနောင့် စနင်းဖြစ်မှုမှာ လူ့သဘာဝအတိုင်းပင် ဖြစ်လေသည်။ ယင်းသို့သော အခြေအနေမျိုးတွင် စိုးရိမ်ကြောင့်ကြသည့်အတွက် အပြစ်ဒဏ်တစုံတရာလည်း မသင့်ပေ။ "မွတ္တလိ" သူတော်စင်တဦးပင် မြွေကိုသော်လည်းကောင်း၊ ကျားကိုသော်လည်းကောင်း၊ ရုတ်တရက် တွေ့မြင်လိုက်ရသည်ရှိသော် စိုးရိမ် ကြောက်ရွံ့သွားမည်သာ ဖြစ်သည်။ ဤကား လူ့သဘာဝပင်ဖြစ်သည်။ ထို့ပြင်တဝ ဗဒ်ရ်စစ်ပွဲတွင် ယင်းကဲ့သို့ စိုးရိမ်ကြောင့်ကြခဲ့ကြသော ပုဂ္ဂိုလ်များမှာ အားလုံးမဟုတ်ပေ။ အချို့သာ ဖြစ်ခဲ့ကြပေသည်။ ယင်းသို့ စိုးရိမ်ခဲ့ကြသည့်အတွက် ဆွဟာဗဟ် သာဝကကြီးများ၏ ဂုဏ်ရည်ကိုလည်း မည်သို့မျှ မထိခိုက်။ မငြိစွန်းပေ။

① "ဗဒ်ရ်" စစ်ပွဲတွင် မက္ကာမြို့သား မုရှ်ရစ်က်များသည် မွတ်စ်လင်မ်တို့ထက် စစ်လက်နက်၊ စားနပ်ရိက္ခာ စစ်သည်အင်အား များပြားပါလျက် မရှုမလှ စစ်ရေးနိမ့်၍ သွားခဲ့ကြရပေသည်။ ၎င်းတို့အနက် နာမည်ကြီး စစ်ဗိုလ်ကြီး (၇၀) တိတိ ကျဆုံး၍ (၇၀) တိတိပင် သုံ့ပန်းအဖြစ် ဖမ်းဆီးခြင်း ခံခဲ့ကြရပေသည်။ ဤသို့ အားဖြင့် "ဗဒ်ရ်" စစ်ပွဲတွင် မုရှ်ရစ်က်များသည် စစ်ရေးရှုံးနိမ့်ပြီး ကမ္ဘာတသက် ဦးခေါင်း မထောင်နိုင်အောင် ➤➤

إِذْ تَسْتَغِيثُونَ رَبَّكُمْ فَاسْتَجَابَ لَكُمْ أَنِّي مُمِدُّكُم بِأَلْفٍ مِّنَ الْمَلَائِكَةِ مُرْدِفِينَ ⑨

၉။ (ပြန်လည်သတိရကြလေကုန်) အကြင်အခါဝယ်၊ အသင်တို့သည် မိမိတို့အားဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်တွင် ကူညီစောင်မတော်မူရန် လျှောက်ထား ပန်ကြားလျက်ရှိကြလေသည်။ ၎င်းနောက် ထိုအရှင်မြတ်သည် အသင်တို့၏ ပန်ကြားချက်ကို(လက်ခံတော်မူ၍) ဧကန်စင်စစ် ငါအရှင်မြတ်သည် အသင်တို့အား *တပါးပြီးတပါး (ဆက်တိုက်) လာကြမည်ဖြစ်သော* [၁] "မလာအိကဟ်ကောင်းကင်တမန် တထောင်ဖြင့် ကူညီစောင်မတော်မူမည်"ဟု ပြန်ကြားတော်မူခဲ့လေသတည်း။

وَمَا جَعَلَهُ اللَّهُ إِلَّا بُشْرَىٰ وَلِتَطْمَئِنَّ بِهِ قُلُوبُكُمْ ۚ وَمَا النَّصْرُ إِلَّا مِنْ عِندِ اللَّهِ ۚ إِنَّ اللَّهَ عَزِيزٌ حَكِيمٌ ⑩

၁၀။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ထို(ကဲ့သို့ "မလာအိကဟ်" များကို စေလွှတ်တော်မူ၍ ကူညီတော်မူမည်ဟု)ကတိပေးတော်မူခြင်းမှာ အသင်တို့အဖို့ ဝမ်းမြောက်ဖွယ်ရာသတင်းအဖြစ်သာ လည်းကောင်း၊ အသင်တို့၏ စိတ်နှလုံးများသည် ထိုသတင်း(ကို ကြားသိရခြင်းအား)ဖြင့် နှစ်သိမ့်ခြင်းငှာလည်းကောင်း၊ ပြုတော်မူခဲ့လေသည်။ အမှန်သော်ကား အောင်မြင်မှုသည် အလ္လာဟ်အရှင်မြတ် အထံတော်မှသာလျှင်ဖြစ်၏။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် တန်ခိုးအာနုဘော်နှင့်ပြည့်စုံတော်မူသောအရှင်၊ ဉာဏ်အမြော်အမြင်နှင့်ပြည့်စုံတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ ဖြစ်သွားခဲ့ကြရလေသည်။ ထို့အတွက်ကြောင့်ပင် ရာဇဝင်ပါရဂူတို့က ဤစစ်ပွဲသည် အစ္စလာမ်နှင့် ကုဖ်ရ်အတွက် အပြီးအပြတ် အဆုံးအဖြတ်ပေးသည့် စစ်ပွဲပင်ဖြစ်သည်ဟု တညီတညွတ်တည်း ရေးသားကြခြင်းဖြစ်သည်။

(၁) "ဗဒ်ရ်စစ်ပွဲတွင် အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်တမန်တော်များကို စေလွှတ်၍ မွတ်စ်လင်မ်တို့အား ကူညီတော်မူခဲ့လေသည်။ ဤအကြောင်း ကုရ်အာန် (၃:၁၂၀-၁၂၈)တွင်လည်း ပါရှိခဲ့လေပြီ၊ ထူခြားချက်တစ်ရပ်မှာ ကုရ်အာန် (၃:၁၂၃-၁၂၄)တွင် ကောင်းကင်တမန်များ၏ အရေအတွက်မှာ ၃၀၀၀ မှ ၅၀၀၀ အထိ ➤➤

إِذْ يُغَشِّيكُمُ النُّعَاسَ أَمَنَةً مِّنْهُ وَيُنَزِّلُ عَلَيْكُم مِّنَ السَّمَاءِ مَاءً لِّيُطَهِّرَكُم بِهِ وَيُذْهِبَ عَنكُمْ رِجْزَ الشَّيْطَانِ وَلِيَرْبِطَ عَلَىٰ قُلُوبِكُمْ وَيُثَبِّتَ بِهِ الْأَقْدَامَ ﴿١١﴾

၁၁။ (ပြန်လည်၍ သတိရရှိကြလေကုန်)။ အခါ တပါး၌ ထို အရှင်မြတ်သည် မိမိအထံတော်မှ အသင်တို့အပေါ်၌ အမောအပန်းပြေစေခြင်းငှာ ငိုက်မျည်းခြင်းကို ဖုံးလွှမ်းစေတော်မူခဲ့လေသည်။ ၎င်းပြင် အသင်တို့အပေါ်ဝယ် မိုးကောင်းကင်မှ(မိုး) ရေကို ထို(မိုးရေ)ဖြင့် အသင်တို့အားသန့်ရှင်းစင်ကြယ် စိမ့်သောငှာလည်းကောင်း၊ အသင်တို့(၏ စိတ်နှလုံး တွင်း)မှ ရှိုင်တွာန်မိစ္ဆာကောင်၏ အကြံပေးချက်ကို ပပျောက်စိမ့်သောငှာလည်းကောင်း၊ အသင်တို့၏စိတ် နှလုံးများ ကြံ့ခိုင်စိမ့်သောငှာလည်းကောင်း၊ (အသင် တို့၏)ခြေများကို ထို(မိုးရေ)ဖြင့် မြဲမြံခိုင်မြဲစိမ့်သော ငှာလည်းကောင်း၊ ရွာသွန်းစေလျက် ရှိတော်မူခဲ့ချေ သတည်း။ [၁]

---

➤➤ ဖြစ်သည်ဟူ၍ ပါရှိသည်။ ဤမုကဒ္ဒပါဠ်တော်တွင် ကောင်းကင်တမန်များ၏ အရေအတွက်မှာ ၁၀၀၀ ဟူ၍ပါရှိသည်။ အကယ်၍ အဖြစ်အပျက်သည် တခုတည်းဖြစ်ပါသော် ပထမတွင် ကောင်းကင်တမန်များ ၁၀၀၀ လာရှိ၍ ထို့နောက် အဆက်မပြတ် ကောင်းကင်တမန်များ ၃၀၀၀ မှ ၅၀၀၀ အထိ ဆင်းသက် လာခဲ့ကြသည်ဟု ဆိုရပေမည်။ ဤသည့်အချက်ကိုပင် "တပါးပြီးတပါး အဆက်မပြတ် လာကြသော" ဟူသောပုဒ်သည် ညွှန်ပြလျက်ရှိပေသည်။

(၁) "ဗဒ်ရ်" စစ်ပွဲသည် အမှန်စင်စစ် မွတ်စ်လင်မ်တို့အဖို့ ပြင်းထန်ကြီးကျယ်သော စမ်းသပ်မှုကြီးတစ်ရပ်ဖြစ်ခဲ့ပေသည်။ မွတ်စ်လင်မ်တို့၌ စစ်သည်ဦးရေလည်းနည်း၏။ စစ်လက်နက်လည်း မပါခဲ့ချေ။ ၎င်းတို့သည် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန်လည်း ထွက်လာခဲ့ကြသည်မဟုတ်ပေ။ ဤယူဆချက်သည် ထာနဝီသခင်၏ ယူဆချက်နှင့် ထပ်တူထပ်မျှဖြစ်သည်။ ထို့ပြင်တဝ ရန်သူများနှင့် ရင်ဆိုင်ရပြန်သောအခါ ရန်သူများသည် မိမိတို့ထက် နှစ်ဆပိုမို များပြားကြီးမားလျက်ရှိ၏။ ရန်သူများတွင် စစ်လက်နက် အပြည့်အစုံပါရှိ၏။ မွတ်စ်လင်မ်တို့အား ချေမှုန်းတိုက်ခိုက်ရန် စိတ်ဓာတ်လည်း အလွန်ပြင်းပြလျက်ရှိ၏။ မွတ်စ်လင်မ်နှင့် ကာဖိရ်တို့စပ်ကြားတွင် ဤစစ်ပွဲသည် ပထမဆုံးစစ်ပွဲပင်ဖြစ်သည်။

ပြိုင်ဆိုင်တိုက်ခိုက်ရာ၌ ကာဖိရ်များသည် စစ်မြေပြင်သို့ ပထမဦးစွာ ရောက်ရှိလာခဲ့ကြသဖြင့် ကောင်းသောနေရာကို ပထမရယူထားကြ၏။ ရေရှိရာနေရာကိုလည်း သိမ်းပိုက်ထားကြ၏။ မွတ်စ်လင်မ်များမှာ မြေနိမ့်ဘက်တွင် နေရာရရှိကြ၏။ မွတ်စ်လင်မ်တို့ဘက်တွင် သဲထူ၏။ သဲတွင်ခြေကျွံ၏။ မြူဖုံများသည်လည်း ဒုက္ခပေးလျက်ရှိ၏။ ရေမရှိသည့်အတွက် ရေမချိုးနိုင်ကြပေ။ "ဝုဇူ" လည်း မပြုနိုင်ကြပေ။ ထိုအချိန်အထိ "တယမ်မွန်မ်" ပြုရန် အမိန့်တော်လည်း မကျရောက်ခဲ့သေးပေ။ ဆာလောင် မွတ်သိပ်မှု သည်လည်း ➤➤

➤➤ မွတ်စ်လင်မ်တို့အား ဒုက္ခပေးလျက်ရှိသည်။

ဤသည့်အချင်းအရာ အဖြစ်အပျက်များကို ကြည့်၍ စစ်ရေးရှုံးနိမ့်မည်ဟု မွတ်စ်လင်မ်တို့သည် တွေးဆစိုးရိမ်မိကြ၏။ ထို့ပြင်တဝ ရှိုင်တွာန်က မွတ်စလင်ကို့၏စိတ်တွင် "အကယ်၍ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ ချစ်ကြည်မြတ်နိုးခြင်းကို ခံကြရသောသူများ ဖြစ်ကြပါမူ၊ ထိုအရှင်မြတ်၏ ကူညီစောင်မမှုသည် အသင်တို့ဘက်၌သာ ရှိရပေမည်။ ယခုကဲ့သို့ မနှစ်မြို့ဖွယ်ရာ ဖြစ်ရပ် များနှင့် တွေ့ကြုံရမည်မဟုတ်" ဟု အနှောင့်အယှက်ဖြစ်စေသော အတွေးအခေါ် ဖြစ်ပေါ်စေ၏။

ထိုအခါ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် ကောင်းကင်မှ မိုးရွာသွန်းချစေတော်မူလေသည်။ ယင်းသို့ မိုးရွာသွန်းချတော် မူလိုက်သည့်အတွက် သဲများသည် မာသွားလေ၏။ ရေချိုးရန် ဝုဇူပြုလုပ်ရန်နှင့် သောက်သုံးရန် ရေပြဿနာလည်း ရှင်းသွားလေ၏။ မြုံဖုံများ၏ဒုက္ခလည်း ကင်းစင်သွားလေ၏။ ယင်းသို့ မိုးရွာသွန်းချလိုက်တော် မူသည်အတွက် မွတ်စ်လင်မ်တို့အတွက် ကောင်းသည်နှင့်အမျှ ကာဖိရ်တို့အတွက် အဆိုးဖြစ်သွားလေသည်။ ကာဖိရ်စစ်သည်များရှိရာဘက်တွင် ရွှံ့ပုတ်ထူလာ၏။ သွားလာရာတွင် ခြေချော်၏။

ဤသို့အားဖြင့် မွတ်စ်လင်မ်တို့ တွေ့ကြုံနေကြရသော အခက်အခဲများ ဖြေရှင်းသွားသည့်အခါ အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့၏အပေါ်၌ အမောအပန်း ပြေစေတော်မူရန်အလို့ငှာ တစ်မျိုးတစ်ဖုံ ထူးခြားသည့် ငိုက်မြည်းမှုကို ဖုံးလွှမ်းစေတော်မူလေသည်။ ယင်းသို ငိုက်မြည်းမှုကို ဖုံးလွှမ်းစေတော်မူသည့်အခါ မွတ်စ်လင်မ်တို့၏ စိတ်တွင်းမှ စိုးရိမ်မှုများ လုံးဝ ပျောက်ကွယ်သွားလေတော့သည်။

အချို့ "ရိဝါယတ်" ကျမ်းချက်များတွင် တမန်တော်မြတ်နှင့် သာဝကကြီး အဗူဗတ်ကရ် သခင်တို့သည် တမန်တော်မြတ်အဖို့ သီးသန့်ပြုလုပ်ထားသည့် "အရီးရှ်" Canoby အမိုးအောက်တွင် တညဥ့်လုံး ဆုတောင်းပတ္ထနာပြု၍ နေကြလေသည်။ နောက်ဆုံးတွင် တမန်တော်မြတ်သည် အနည်းငယ်ငိုက်မြည်း၍ တဖန် ပြန်လည်သတိရလာသောအခါ မွတ်စ်လင်မ်တို့အား "ဝမ်းသာရွှင်လန်းကြကုန်၊ ကောင်းကင်တမန် ဂျစ်ဗ်ရအီလ် သည် အသင်တို့အား ကူညီရန်ကြွလာပြီ" ဟု ပြောဆိုကာ အမိုးအောက်မှ အပြင်သို့ ထွက်လာတော်မူလေသည်။

ထို့နောက် တမန်တော်မြတ်သည် ကုရ်အာန် (၅၄-၄၅)တွင် ပါရှိသည့် မုက္ခပါဌ်တော်

سَيُهْزَمُ الْجَمْعُ وَيُوَلُّونَ الدُّبُرَ

"မကြာမီအတွင်း ရန်သူများသည် ရှုံးနိမ့်ပြီး ကျောခိုင်း၍ ထွက်ပြေးသွားကြလိမ့်မည်" ဟု မြွက်ဆိုလျက် နေတော်မူလေသည်။

အချုပ်အားဖြင့် ထိုနေ့ ထိုရက် ထိုအချိန်တွင် ယင်းကဲ့သို့ အလ္လာဟ်အရှင်မြတ်က မိုးရွာသွန်းချတော် မူလိုက်သဖြင့် မွတ်စ်လင်မ်တို့၏ ကိုယ်ခန္ဓာများသည် အညစ်အကြေးများမှ သန့်ရှင်း၍သွားလေသည်။ စိတ်နှလုံးများသည်လည်း ရှိုင်တွာန်၏ အနှောင့်အယှက်မှ ကင်းစင်သွားလေသည်။ သဲများသည်လည်း မာသွားသဖြင့် ခြေကုပ် ရလာလေသည်။ ကြောက်လန့် စိုးရိမ်မှုများ ကင်းစင်၍ စိတ်ဓာတ်များသည်လည်း ကြံ့ခိုင်ရဲရင့်၍ လာလေသည်။

**မှတ်ချက်။**

အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့အပေါ်၌ ငိုက်မြည်းမှုကို ၂-ကြိမ် လွှမ်းမိုးစေတော်မူခဲ့လေသည်။ "ဗဒ်ရ်" စစ်ပွဲတွင် တကြိမ်၊ "အုဟွဒ်" စစ်ပွဲတွင် တကြိမ်။

ကြည့်-ကုရ်အာန်(၈း ၁၁။ ၃း ၁၅၃)။

إِذْ يُوحِي رَبُّكَ إِلَى الْمَلَٰٓئِكَةِ أَنِّي مَعَكُمْ فَثَبِّتُوا الَّذِينَ آمَنُوا ۚ سَأُلْقِي فِي قُلُوبِ الَّذِينَ كَفَرُوا الرُّعْبَ فَاضْرِبُوا فَوْقَ الْأَعْنَاقِ وَاضْرِبُوا مِنْهُمْ كُلَّ بَنَانٍ ﴿١٢﴾

၁၂။ (ပြန်လည်၍ သတိရရှိပါလေ) တရံရောအခါ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် "မလာအိကဟ်" ကောင်းကင်စေတမန်များထံ (ဤသို့) "ဝဟ်ယ်" အမိန့်တော် ချမှတ်တော်မူခဲ့လေသည်။ "ငါအရှင်မြတ်သည် ဧကန်စင်စစ် အသင်တို့နှင့်အတူရှိတော်မူ၏။ *သို့ဖြစ်ပေရာ အသင်တို့သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့အား (ကြံ့ခိုင်စွာ) တည်မြဲစေကြလေကုန်။*[၁]

မကြာမီပင် ငါအရှင်မြတ်သည် "ကာဖိရ်" မယုံမကြည် သွေဖည် ငြင်းပယ်သောသူတို့၏ စိတ်နှလုံးများ၌ ကြောက်ရွံ့ထိတ်လန့်ခြင်းကိုထည့်သွင်းပေးတော်မူအံ့။ သို့ဖြစ်ပေရာ အသင်တို့သည် ၎င်းတို့၏ လည်ကုပ်များကို ခုတ်ဖြတ်ကြလေကုန်။ ထိုနည်းတူစွာ အသင်တို့သည် ၎င်းတို့၏ လက်ချောင်းများ၏ အဆစ်များကို တခုစီ ဖြတ်တောက်ကြလေကုန်"။

---

(၁) ဗဒ်ရ်စစ်ပွဲတွင် "အီဗ်လီစ်" သည် "ကိနာနဟ်" မျိုးနွယ်၏ခေါင်းဆောင်ကြီး စုရာကတ်အီဗ်နု မာလစ်က် မုဒ်လဂျီ၏ ရုပ်ဆင်းသဏ္ဍာန်ဆောင်၍ "အဗုဂျဟ်လ်ထံသို့ ရောက်ရှိလာပြီး "ယနေ့အသင်တို့အား မည်သူမျှ အောင်နိုင်မည်မဟုတ်။ ကျွန်ုပ်၏တပ်မတော်ကြီး တစ်ခုလုံးသည် အသင်တို့နှင့်အတူတကွ ရှိသည်" ဟု ပြောဆိုကာ မုရှ်ရစ်က်တို့အား အားပေးစကားပြောခဲ့၏။ အီဗ်လီစ်၏ အလံအောက်တွင် ရှိုင်တွာန်များ၏ အလွန်ကြီးမားသော တပ်ကြီးတစ်တပ်လည်း ပါရှိ၏။ (ဤအကြောင်းရှေ့တွင်လာမည်။) ထိုအခါ အလ္လာဟ် အရှင်မြတ်သည် မွတ်စ်လင်မ်တို့အား ကူညီစောင့်ရှောက်ရန်အတွက် ကောင်းကင်တမန်များ၏ တပ်တစ်တပ်ကို စေလွှတ်တော်မူ၏။ ထိုကောင်းကင်တမန်တပ်ကို ကောင်းကင်တမန် ဂျစ်ဗ်ရာအီလ်နှင့် မီကာအီလ်တို့အား စီမံအုပ်ချုပ်စေတော်မူ၏။ ၎င်းနောက် ထိုအရှင်မြတ်က ကောင်းကင်တမန် တပ်မတော်အား ငါအရှင်မြတ်သည် အသင်တို့နှင့်အတူတကွ ရှိတော်မူသည်။ (ရှိုင်တွာန်များသည် လူသားတို့ အသွင်ဆောင်၍ ကာဖိရ်များအား အားပေးလျက်ရှိကြသည်။ ကာဖိရ်များဘက်မှ ဝင်ရောက်ကူညီ တိုက်ခိုက်လျက်ရှိကြသည်။ မွတ်စ်လင်မ် စစ်သည်တော်များ၏စိတ်တွင် အနှောင့်အယှက်အမျိုးမျိုး ပေးလျက်ရှိကြသည်။ သို့ရှိရာ) အသင်တို့သည် အနိုပ်စက်ခံနေကြရသော အားနည်းသော မွတ်စ်လင်မ်စစ်သည်တော်များ၏ စိတ်ဓာတ်ကို ကြံ့ခိုင်အောင် ပြုလုပ်ပေး ကြကုန်။ ငါအရှင်မြတ်သည် ကာဖိရ်တို့၏စိတ်တွင် ကြောက်ရွံ့မှုကို ထည့်သွင်း ပေးတော်မူမည်။ အသင်တို့သည် မွတ်စ်လင်မ်များနှင့် ပူးပေါင်း၍ နှိပ်စက်ညှင်းပန်းနေကြသော ကာဖိရ်တို့၏ လည်ကုပ်များကို ပိုင်းကြကုန်။ ➢➢

ذٰلِكَ بِاَنَّهُمۡ شَآقُّوا اللّٰهَ وَرَسُوۡلَهٗ‌ۚ وَمَنۡ يُّشَاقِقِ اللّٰهَ وَرَسُوۡلَهٗ فَاِنَّ اللّٰهَ شَدِيۡدُ الۡعِقَابِ ⑬

၁၃။ ဤ(အမိန့်တော်)သည်ကား ယင်း(မုရှ်ရစ်က်)တို့သည် အလ္လာဟ်အရှင်မြတ်အား လည်းကောင်း၊ အရှင်မြတ်၏ ရစူလ်တမန်တော်အား လည်းကောင်း ဆန့်ကျင်ခဲ့ကြသောကြောင့် (ချမှတ်တော်မူသော အမိန့်တော်)ပင်တည်း။ စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ် တမန်တော်အား လည်းကောင်း၊ ဆန့်ကျင်ပါမူ အလ္လာဟ်အရှင်မြတ်သည် အမှန်စင်စစ် ပြင်းထန်စွာ ပြစ်ဒဏ်စီရင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ လက်ချောင်းများကို ဖြတ်တောက်ကြကုန်။ အဘယ်ကြောင့်ဆိုသော် ကာဖိရ်ဖြစ်သော ဂျင်န်များနှင့် လူသားတို့သည် ပူးပေါင်း၍ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်အား ပြိုင်ဆိုင်လျက်ရှိသည်။ သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်အား ဆန့်ကျင်သွေဖည်သောသူများသည် မည်သို့မည်ပုံ အပြစ်ဒဏ်ခံကြရသည်ကို သိရှိသွားကြပေမည်။

ငင်းတို့၏ ပြစ်ဒဏ်အစစ်အမှန်သည် နောင်တမလွန်ဘဝ၏ ပြစ်ဒဏ်ဖြစ်သည်။ သို့ရာတွင် ဤပစ္စက္ခဘဝ၌လည်း ထိုပြစ်ဒဏ်များ၏ အနည်းငယ်စံနမူနာကို မြည်းစမ်းသွားကြရပေမည်။

အချို့ "ရိဝါယတ်" ကျမ်းချက်များတွင် လာရှိသည့်မှာ "ဗဒ်ရ်" စစ်မြေပြင်တွင် လူများသည် ကောင်းကင်တမန်များကို မိမိတို့၏ မျက်စိများဖြင့် မြင်ခဲ့ကြသည်၊ ကောင်းကင်တမန်များ သတ်ဖြတ်ထားသော သူသေများကို လူသားများသတ်ဖြတ်သော သူသေများနှင့် ခွဲခြား၍ သိရှိနိုင်ခဲ့ကြသည်။

အကယ်၍ ဂျင်န်ရှိုင်တွာန်များနှင့် လူရှိုင်တွာန်များသည် အမှန်တရားကို ဖျက်ဆီးရန် အထူးတလည် စုရုံးကြလျှင် အလ္လာဟ်အရှင်မြတ်သည် မှန်ကန်သော မွတ်စ်လင်မ် ဘူတော်စင်တို့အား ကူညီစောင့်ရှောက်တော်မူရန် အတွက် ကောင်းကင်တမန် စေလွှတ်တော်မူနိုင်ကြောင်း သာဓကပြတော်မူခြင်း ဖြစ်ပေသည်။ အမှန်မှာ အောင်နိုင်မှု၊ ရှုံးနိမ့်မှု မဆိုထားဘိ ကိစ္စကြီးငယ် အသွယ်သွယ်တို့သည် ထိုအရှင်မြတ်၏ အလိုတော်အတိုင်းသာ ဖြစ်ပျက်လျက်ရှိပေသည်။ ထိုအရှင်မြတ်သည် ကောင်းကင်တမန်များကိုလည်း မှီခိုအားထားတော်မူသည်မဟုတ်။ လူသားတို့ကိုလည်း မှီခိုအားထားတော်မူသည်မဟုတ်။ မည်သည့်အရာကိုမှ မှီခိုအားထားတော်မူသည်မဟုတ်။ ထိုအရှင်မြတ်သည် ကိစ္စအရပ်ရပ်ကို ကောင်းကင်တမန်များအား သုပ်ခိုင်းစေတော်မူလိုလျှင် ကောင်းကင်တမန် တပါးတည်းအားပင် မြောက်များစွာသော မြို့ရွာများကို မှောက်လှန်ဖြိုဖျက်နိုင်သည့် စွမ်းအားပေးတော်မူခဲ့လေသည်။ ဗဒ်ရ် စစ်မြေပြင်တွင် ကောင်းကင်တမန်များအား စေလွှတ်၍ မွတ်စ်လင်မ်တို့အား ကူညီတော်မူခဲ့ခြင်းမှာ ကျိုးကြောင်းတရား ဆက်စပ်လျက်ရှိသော ဤပစ္စက္ခဘဝတွင် ပြေးလွှားနေကြသော ရှိုင်တွာန်များအား အနည်းငယ် သတိပေးတော်မူခြင်းသာ ဖြစ်ပေသည်။

ذَٰلِكُمْ فَذُوقُوهُ وَأَنَّ لِلْكَٰفِرِينَ عَذَابَ ٱلنَّارِ ﴿١٤﴾

၁၄။ သို့ဖြစ်ပေရာ အသင်တို့သည် ဤသည့် (ပြစ်ဒဏ်)ကို မြည်းစမ်းကြလေကုန်။ ၎င်းပြင် ဧကန် မလွဲ "ကာဖိရ်" မယုံမကြည် သွေဖည်ငြင်းပယ်ကုန် သောသူတို့ခံစားအံ့သောငှာ "ဂျဟန္နမ်" ငရဲဘုံ၏ ပြစ်ဒဏ်သည် အဆင်သင့် ရှိသည် (ကိုလည်း ကောင်းစွာ မှတ်ယူကြလေကုန်။)

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوٓا۟ إِذَا لَقِيتُمُ ٱلَّذِينَ كَفَرُوا۟ زَحْفًا فَلَا تُوَلُّوهُمُ ٱلْأَدْبَارَ ﴿١٥﴾

၁၅။ အို- "မုအ်မင်န်" သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် "ကာဖိရ်" မယုံမကြည် သွေဖည်ငြင်းပယ်သော သူတို့အား (စစ်တပ်ကြီးဖွဲ့ လျက်)(တနည်း)စစ်ပွဲ၌၊ စစ်မြေပြင်၌တွေ့ဆုံကြသော အခါ ၎င်းတို့အား ကျောခိုင်း၍မသွားကြကုန်လင့်။ (ဝါ) *ထွက်မပြေးကြကုန်လင့်။* [၁]

---

(၁) စစ်သည်တော်များအား စစ်မြေပြင်မှ ဆုတ်ခွာထွက်ပြေးခွင့် အနည်းငယ်ပင် ပြုထားပါလျှင် စစ်တပ်၏ စီမံကွပ်ကဲအုပ်ချုပ်မှုသည် ချက်ချင်းပျက်ပြားသွားမည် ဖြစ်သည်။ ထို့အတွက်ကြောင့်ပင် မည်သည့် စစ်ဥပဒေ၌မျှ စစ်မြေပြင်မှ ဆုတ်ခွာထွက်ပြေးခွင့် အလျင်းပြုမထားချေ။ စစ်မြေပြင်မှ ထွက်ပြေးခြင်းသည် ကြောက်ရွံ့မှုကြောင့်ပင် ဖြစ်သည်။ ဤသည် ချမ်းသာခွင့်မရရှိနိုင်သော အပြစ်ပင်ဖြစ်သည်။

အထူးသဖြင့် အစ္စလာမ်တပ်မတော်၏ စစ်သည်တော်များသည် ကြေးစားတပ်သားများ မဟုတ်။ အလ္လာဟ်အရှင်မြတ်၏စစ်သည်တော်များပင် ဖြစ်သည်။ မွတ်စ်လင်မ်စစ်သည်တော်များသည် မိမိတို့၏အသက်ပေးကာ ဂျန္နတ်ကို ရယူကြရန်အတွက် စစ်မြေပြင်၌ ခြေချကြသည်။ သို့ဖြစ်ပေရာ မွတ်စ်လင်မ်စစ်သည်တော်များတွင် ကြောက်စိတ်သည် အလျင်း မရှိနိုင်ပေ။

စစ်မြေပြင်မှ ထွက်ပြေးခြင်းသည် ကုရ်အာန်ကျမ်းမြတ်အရ လည်းကောင်း၊ မြောက်မြားစွာ ပညာရှင်တို့၏ တညီတညွတ်တည်း ဆုံးဖြတ်ချက်အရ လည်းကောင်း၊ ပျက်စီးစေတတ်သော ကြီးမားသော အပြစ်ကြီးပင် ဖြစ်သည်။ (ကုရ်တုဗီ)

များပြားသော ရန်သူစစ်တပ်နှင့် ရင်ဆိုင်ရာမှ ထွက်ပြေးသူ၏သက်သေထွက်ချက်ကို လက်မခံထိုက်။ မွတ်စ်လင်မ်စစ်သည်များသည် ၎င်းတို့၏ ရှေ့ဆောင် အကြီးအကဲ ထွက်ပြေးငြားလည်း ၎င်းတို့အတွက် ထွက်ပြေးပိုင်ခွင့်မရှိ။ ဤသည် "အိဗ်နုလ်ကာစင်မ်" ၏ အဆိုတည်း။ (ကုရ်တုဗီ)

များပြားသော ရန်သူစစ်တပ်နှင့် ရင်ဆိုင်ရာမှ ထွက်ပြေးခြင်းသည် အကြီးဆုံးသော အပြစ်များတွင် အပါအဝင်ဖြစ်သည်။

မွတ်စ်လင်မ်စစ်သည်တဦးသည် စစ်မြေပြင်မှ အကြောင်းမဲ့ထွက်မပြေးရ။ ယင်းသို့ ထွက်ပြေး ➤➤

وَمَن يُوَلِّهِمْ يَوْمَئِذٍ دُبُرَهُۥٓ إِلَّا مُتَحَرِّفًا لِّقِتَالٍ أَوْ مُتَحَيِّزًا إِلَىٰ فِئَةٍ فَقَدْ بَآءَ بِغَضَبٍ مِّنَ ٱللَّهِ وَمَأْوَىٰهُ جَهَنَّمُ ۖ وَبِئْسَ ٱلْمَصِيرُ ﴿١٦﴾

၁၆။ အမှန်သော်ကားမည်သူမဆို ထိုနေ့တွင် အချို အတက် လွှဲပြောင်းစစ်ဆင်ခြင်း၊ သို့တည်းမဟုတ် (မိမိတို့၏)တပ်ဖွဲ့တခုခုထံ (သွားရောက်)ပူးပေါင်း နေရာယူခြင်းမှတပါး ၎င်းတို့အား ကျောခိုင်း၍သွား ခဲ့မူ၊ ထိုသူသည် အလ္လာဟ်အရှင်မြတ်၏ အမျက်တော် နှင့်တကွ ပြန်ခဲ့သည်။ ထိုသူသည် အမျက်တော် သင့်လေပြီ။ ထို့ပြင် ဂျဟန္နမ် ငရဲဘုံသည်ပင်လျှင် ၎င်း၏နေရာထိုင်ခင်း ဖြစ်ချေသည်။ စင်စစ်တမူကား ဂျဟန္နမ်ငရဲဘုံသည် အလွန်ယုတ်ညံ့သိမ်ဖျင်းလှသော ပြန်လည်ရာစခန်းပင် ဖြစ်ချေသတည်း။

فَلَمْ تَقْتُلُوهُمْ وَلَٰكِنَّ ٱللَّهَ قَتَلَهُمْ ۚ وَمَا رَمَيْتَ إِذْ رَمَيْتَ وَلَٰكِنَّ ٱللَّهَ رَمَىٰ ۚ وَلِيُبْلِىَ ٱلْمُؤْمِنِينَ مِنْهُ بَلَآءً حَسَنًا ۚ إِنَّ ٱللَّهَ سَمِيعٌ عَلِيمٌ ﴿١٧﴾

၁၇။ အသင်တို့သည် ထို(ကာဖိရ် မယုံမကြည် သွေးဖည်ငြင်းပယ်သော) သူတို့အား သတ်ဖြတ်ခဲ့ကြ သည်မဟုတ်ပေ။ စင်စစ်တမူကား အလ္လာဟ်အရှင်မြတ် သည်ပင် ထိုသူတို့အား သတ်ဖြတ်တော်မူခဲ့လေသည်။ ထိုနည်းတူစွာ (အို – နဗီတမန်တော်) အသင်သည် (၎င်းတို့အား) (သဲများဖြင့်)ပက်ခဲ့စဉ်ကလည်း အသင် ပက်ခဲ့သည်မဟုတ်ပြီ။ စင်စစ်မှာမူကား အလ္လာဟ် အရှင်မြတ်ပင် ပက်တော်မူခဲ့လေသည်။ ၁

➤➤ ခြင်းသည် "ဟရာမ်" ဖြစ်သည်။ သို့ရာတွင် စစ်အင်အားခြင်း မမျှလျှင်၊ ဥပမာ– ရန်သူစစ်သည်များသည် မိမိတို့ထက် နှစ်ဆထက် ပိုမိုများပြားနေလျှင် စစ်မြေပြင်မှ ဆုတ်ခွာလာနိုင်သည်။ ကြည့်–ကုရ်အာန် (၈:၆၆)။

ထို့ပြင်တဝ စစ်မြေပြင်တွင် စစ်ပရိယာယ်ဖြင့် ရန်သူအားလှည့်စားပြီး ထိရောက်စွာ ပြန်လည် တိုက်ခိုက်ရန်အတွက် ခေတ္တ စစ်မျက်နှာမှဆုတ်ခွာခြင်း၊ အခြေအနေအရ မိမိတို့၏ ဗဟိုရ်စစ်တပ်နှင့် သွားရောက် ပူးပေါင်းရန်အတွက် စစ်မျက်နှာမှ ခေတ္တ ဆုတ်ခွာလာခြင်းများသည် ပြုနိုင်သည်။ (ထာနဝီ)

① တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဗဒ်ရ် စစ်မြေပြင်တွင် စစ်ပြိုင်တိုက်ခိုက်နေသည့် အချိန်၌ သဲ သို့မဟုတ် ကျောက်စရစ် လက်တဆုပ်ယူ၍ မုရှ်ရစ်က် စစ်သည်တော်များဘက်သို့ ပက်တော်မူလိုက်ရာ (အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ဖြင့်) ထိုသဲပွင့်များ သို့မဟုတ် ကျောက်စရစ်ခဲကလေးများသည် ရန်သူတို့၏ မျက်လုံးများတွင် ဝင်သွားသဖြင့် ရန်သူများသည် စစ်ရေးရှုံးနိမ့်၍ သွားခဲ့ကြရလေသည်။

အလ္လာဟ်အရှင်မြတ်သည် ဗဒ်ရ်စစ်ပွဲတွင် မွတ်စ်လင်မ်တို့အား အံ့မဆုံးသော ဖြစ်ရပ်များ၊ တန်ခိုးပြာဋိဟာ များကို ပြသတော်မူခဲ့လေသည်။ ဤသည့်အချက်များကို ထောက်ရှုခြင်းအားဖြင့် အရေးကိစ္စအဝဝတွင် ➤➤

(ယင်းသို့ပြုတော်မူခြင်းကား၊ ထိုအရှင်မြတ်၏ သက်သေလက္ခဏာ ထင်ရှားစေအံ့သောငှာ လည်းကောင်း၊) ထိုအရှင်မြတ်၏ ရစူလ်တမန်တော်အား ဆက်လက်၍ တည်မြဲစေအံ့သောငှာ လည်းကောင်း၊ "မုအ်မင်န်" သက်ဝင် ယုံကြည်သူတို့အား မိမိအထံတော်မှ မွန်မြတ်သောစမ်းသပ်ခြင်းကို စမ်းသပ်တော်မူအံ့သောငှာလည်းကောင်း ဖြစ်ချေသည်။ အလ္လာဟ်အရှင်မြတ်သည် ဧကန်မလွဲ အကြွင်းမဲ့ ကြားတော်မူသောအရှင်၊ အကြွင်းမဲ့ သိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူချေသတည်း။

ذٰلِكُمْ وَأَنَّ اللّٰهَ مُوهِنُ كَيْدِ الْكٰفِرِينَ ⑱

**၁၈။** ဤသည်ကား (ပြီးခဲ့သောကိစ္စပင်တည်း။) ထိုမှတပါးအလ္လာဟ်အရှင်မြတ်သည် "ကာဖိရ်" မယုံမကြည် သွေဖည်ငြင်းပယ်သောသူတို့၏ *ကြံစည်မှုကိုလည်း ဧကန်မလွဲ နုံနဲ့(ပျက်စီး)စေတော်မူလတ္တံ့၊* [၁]

إِنْ تَسْتَفْتِحُوا فَقَدْ جَاءَكُمُ الْفَتْحُ ۖ وَإِنْ تَنْتَهُوا فَهُوَ خَيْرٌ لَكُمْ ۖ وَإِنْ تَعُودُوا نَعُدْ ۚ وَلَنْ تُغْنِيَ عَنْكُمْ فِئَتُكُمْ شَيْئًا

**၁၉။** (အို-မက္ကာမြို့သား ကာဖိရ် အပေါင်းတို့) အသင်တို့သည် အကယ်၍ စီရင်ဆုံးဖြတ်ချက်ကို ရလိုပါမူ စီရင်ဆုံးဖြတ်ချက်သည် *အသင်တို့ရှေ့ဝယ် အမှန်ပင် အသင့်ရောက်ရှိနေချေပြီ။* [၂] သို့ရာတွင် အသင်တို့သည်အကယ်၍ (ယခုကပင်)ရပ်စဲကြပါလျှင် ထိုရပ်စဲခြင်းသည် အသင်တို့အဖို့ အကောင်းဆုံးပင်ဖြစ်သည်။

---

➤➤ တကယ်အရာထင်အောင်၊ ထိရောက်အောင်၊ ပြုတော်မူသော အရှင်မှာ အလ္လာဟ်အရှင်မြတ်သာလျှင် ဖြစ်တော်မူကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။ သို့ရာတွင် ထိုအရှင်မြတ်သည် ကျိုးကြောင်း ဆက်စပ်လျက်ရှိသော ဤပစ္စက္ခဘဝတွင် မိမိပြုတော်မူသော အရေးကိစ္စ အဝဝတို့ကိုမူကား အဆက်အသွယ်များ၊ ကရိယာတန်ဆာများအားဖြင့်သာ ပြီးစီးစေတော်မူလေသည်။

(၁) ယခုလည်းအလ္လာဟ်အရှင်မြတ်သည် ဗဒ်စစ်ပွဲတွင် မက္ကာမြို့သားကာဖိရ်များ၏ အကြံအစည်ကို အချည်းနှီးဖြစ်စေတော်မူလိုက်လေပြီ။ နောက်နောင်တွင်လည်း ထိုအရှင်မြတ်သည် ယင်း ကာဖိရ်များ၏ အကြံအစည်များကို အချည်းနှီးပင် ဖြစ်စေတော်မူမည်သာ ဖြစ်သတည်း။

وَلَوْ كَثُرَتْ وَأَنَّ اللّٰهَ مَعَ الْمُؤْمِنِيْنَ ﴿١٩﴾

သို့ရာတွင်အကယ်၍ အသင်တို့သည်ထပ်မံ၍ ပြုလုပ်ကြပါမူ ငါ အရှင်မြတ်သည်လည်း ထပ်မံ၍ ပြုလုပ်တော်မူအံ့။ ထိုအခါ အသင်တို့၏အုပ်စုသည် မည်မျှပင်များပြားသော်လည်း အသင်တို့အဖို့ အနည်းငယ်မျှပင် အသုံးဝင်လိမ့်မည်မဟုတ်ပေ။ ထိုမှတပါး အလ္လာဟ်အရှင်မြတ်သည် ဧကန်မလွဲ "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့နှင့်အတူ ရှိတော်မူသည် (ကို လည်း ကောင်းစွာ သတိပြုကြလေကုန်)။

---

(၂) ဤမုက္ခပါဋ္ဌ်တော်သည် မက္ကာမြို့သားကာဖိရ်များကို ရည်ညွှန်း မိန့်ဆိုထားတော်မူသော မုက္ခပါဋ္ဌ်တော်ဖြစ်သည်။ မက္ကာမြို့တော်မှ မဒီနာမြို့တော်သို့ တမန်တော်မြတ် "ဟစ်ဂျ်ရတ်" မပြုလုပ်မီအလျင် မက္ကာမြို့သား ကာဖိရ်များသည် တမန်တော်မြတ်အား "အကယ်၍ အသင်တို့သည် မှန်ကန်စွာပြောဆိုသူများဖြစ်ကြလျှင် ကျွန်ုပ်တို့နှင့် အသင်တို့ စပ်ကြားတွင် အရှုံးအနိုင် အဆုံးအဖြတ်သည် မည်သည့်အခါတွင် ဖြစ်မည်နည်း" ဟု ပြောဆိုလေ့ရှိကြသည်။ အမှန်မှာ မွတ်စ်လင်မ်တို့နှင့် ကာဖိရ်တို့၏စပ်ကြားတွင် ပြည့်စုံသော နောက်ဆုံးဖြစ်သော အဆုံးအဖြတ်သည် ကိယာမတ်နေ့၌ ရှိပေမည်။ သို့ရာတွင် ကာဖိရ်များသည် ဤသည့်အဆုံးအဖြတ်ကို တနည်းတဖုံ "ဗဒ်ရ်" စစ်မြေပြင်မှာပင် မြင်လိုက်ကြရပေပြီ။ ကာဖိရ်တို့သည် အဖက်ဖက်တွင် စစ်အင်အား များပြားကြီးမားလျက် နှင့်ပင် လက်တဆုပ်မျှသော မွတ်စ်လင်မ်တို့၏ရှေ့မှောက်တွင် အံ့ဖွယ်သရဲ မရှုမလှ အရှုံးကြီးရှုံးခဲ့ကြရလေပြီ။ အကယ်၍ ယင်းကာဖိရ်တို့သည် တမန်တော်မြတ်အား သွေးဖည်ဆန့်ကျင်မှု ပြုခြင်းမှလည်းကောင်း၊ "ကုဖ်ရ်" "ရှရ်စ်က်" ပြုခြင်းမှလည်းကောင်း၊ ရပ်ခဲ့ကြလျှင် ၎င်းတို့အဖို့ နှစ်ဘဝလုံးတွင် ကောင်းပေသည်။ ယင်းသို့မဟုတ်ပဲ အကယ်၍ ၎င်းတို့သည် ဤကဲ့သို့ပင် မိုက်မဲ၍ တဖန် မွတ်စ်လင်မ်တို့အား တိုက်ခိုက်ကြလျှင် အလ္လာဟ်အရှင်မြတ် သည်လည်း မွတ်စ်လင်မ်တို့အား ယခင်ကဲ့သို့ပင် စောင့်ရှောက်ကူညီတော်မူမည်ဖြစ်သဖြင့် နောက်ဆုံးတွင် ယင်း ကာဖရ်များသည် ရှုံးနိမ့်ကြရမည် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့အား ကူညီစောင့်ရှောက်လျက် ရှိတော်မူပေရာ ကာဖိရ်များအဖို့ ၎င်းတို့၏ စစ်သည်အင်အားများသည် အဘယ်မျှပင် များပြားလင့်ကစား အကျိုးသက်ရောက်စေမည် မဟုတ်ပေ။

အချို့ "ရိဝါယတ်" ကျမ်းချက်များတွင် ဤသို့လာရှိသည်။ အဗူဂျဟ်လ်နှင့် အပေါင်းပါများသည် မွတ်စ်လင်မ်တို့အား ချေမှုန်းရန်အတွက် မက္ကာမြို့မှ ဗဒ်ရ်သို့ ထွက်ခွာလာကြသည့်အခါ "ကအ်ဗဟ်" ကျောင်းတော်၏ "ဃိလာဖ်" အဖုံးတော်ကိုကိုင်၍ "အို- အလ္လာဟ်အရှင်မြတ်၊ အုပ်စု ၂ ခုအနက် အမြင့်မြတ်ဆုံး၊ အကောင်းမွန်ဆုံး အုပ်စုကို အနိုင်ပေးတော်မူပါ။ ဆူပူနှောင့်ယှက်သူများကို အရှုံးပေးတော်မူပါ" ဟု ဆုမွန်တောင်းခဲ့ကြလေသည်။ သို့ ဆုမွန်တောင်းဆိုခဲ့ကြသည့်အတိုင်းပင် အဟုတ်တကယ် အမှန်မြင့်မြတ်ကောင်းမွန်သော အုပ်စုသည် အနိုင်ရရှိ၍ ဆူပူနှောင့်ယှက် ဖျက်ဆီးသောအုပ်စုသည် ဆုံးရှုံးပျက်စီးခဲ့ရလေပြီ။ (ဝါ)မွတ်စ်လင်မ်တို့သည် အမြင့်မြတ်ဆုံးသော အုပ်စုဖြစ်သည့်အလျောက် အနိုင်ကြီးနိုင်ခဲ့ရ၍ ကာဖိရ်များသည် ဆူပူနှောင့်ယှက်သူများ ဖြစ်သည့်အလျောက် အရှုံးကြီး ရှုံးခဲ့ကြရလေပြီ။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوٓا۟ أَطِيعُوا۟ ٱللَّهَ وَرَسُولَهُۥ وَلَا تَوَلَّوْا۟ عَنْهُ وَأَنتُمْ تَسْمَعُونَ ﴿٢٠﴾

၂၀။ အို-"မုအ်မင်န်"သက်ဝင်ယုံကြည်သူ အပေါင်းတို့၊အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်များကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ရစူလ်တမန်တော်၏အမိန့်တော်များကိုလည်းကောင်း၊ လိုက်နာကြလေကုန်။ ၎င်းပြင်အသင်တို့သည် *ကြားသိလျက်နှင့် ထိုအမိန့်တော်(များ)မှလွဲဖယ်မသွားကြကုန်လင့်။* ၁

وَلَا تَكُونُوا۟ كَٱلَّذِينَ قَالُوا۟ سَمِعْنَا وَهُمْ لَا يَسْمَعُونَ ﴿٢١﴾

၂၁။ ထို့ပြင် အသင်တို့သည် အကြင်သူများကဲ့သို့ မဖြစ်ကြကုန်လင့်။ ထိုသူများသည် *ကျွန်တော်မျိုးတို့ ကြားကြပါပြီ* ၂ ဟု ပြောဆိုခဲ့ကြလေသည်။ စင်စစ်မူကား ၎င်းတို့သည် (တစုံတရာကိုမျှ) ကြားကြသည် မဟုတ်ပေ။

---

(၁) "ကျွန်ုပ်သည် အမိန့်တော်ကို ကြားပါသည်၊ နာခံပါသည်၊" ဟု မုအ်မင်န်တဦး၏ ပြောဆိုခြင်းမှာ ထိုအမိန့်တော်ကို မိမိကိုယ်တိုင် လိုက်နာကျင့်သုံးခြင်းအားဖြင့် ယင်းသို့ လိုက်နာကျင့်သုံးခြင်း၏ (အကျိုးဖြစ်သည့်) အမှတ်အသား အရိပ်အရောင်သည် ထိုမုအ်မင်န်၌ မပေါ်ထင်သမျှ ကာလပတ်လုံး ယင်းသို့ပြောခြင်းမှာ အကျိုးမရှိပေ။ ဤသည့်သဘောကို ဤမုကဒ္ဒပါဠ်တော်တွင် ရည်ညွှန်းထားတော်မူသည်။ (ကုရ်တုဗီ)

ကုရ်အာန်ကျမ်းမြတ် (၈း၁၉)တွင် အလ္လာဟ်အရှင်မြတ်သည် မုအ်မင်န်များနှင့် အတူတကွ ရှိတော်မူကြောင်းပါရှိ၏။ ယခု ဤမုကဒ္ဒပါဠ်တော်တွင် အလ္လာဟ်အရှင်မြတ်၏ ကူညီစောင်မတော်မူခြင်းကို ရရှိနိုင်ရန်အတွက် အလ္လာဟ်အရှင်မြတ်နှင့်လည်းကောင်း၊ တမန်တော်မြတ်နှင့်လည်းကောင်း၊ မည်သို့မည်ပုံ ဆက်သွယ်နေထိုင်ကြရမည့်အကြောင်းကို မိန့်ဆိုထားတော်မူသည်။ မှန်ကန်သော မုအ်မင်န်တဦးသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကိုကြား၏၊နားလည်၏၊ လက်ခံ၏၊ သို့ကြားပြီးနားလည်ပြီး၊ လက်ခံပြီးနောက်တွင်မူ ထိုအမိန့်တော်ကို ကိုယ်၊ နှုတ်၊ နှလုံး၊ သုံးပါး လုံးဖြင့် လိုက်နာကျင့်သုံးရမည်သာ ဖြစ်သည်။ အခြေအနေများက အဘယ်မျှပင် ဟန့်တားနေလင့်ကစား မည်သည့်အချိန်တွင်မျှ ထိုအမိန့်တော်များကို အလျင်း ကျော်မခိုင်းရပေ။

(၂) ယဟူဒီများက တမန်တော်မူစာအား "ကျွန်ုပ်တို့ ကြားကြပါသည်။ သို့ရာတွင် မနာခံကြပါ" ဟု ဆိုခဲ့ကြ၏။ ကြည့်- ကုရ်အာန်(၂း၉၃)။ မက္ကာမြို့သားမုရှ်ရစ်က်များက "ကျွန်ုပ်တို့ ကြားလိုက်ကြပါသည်။ အကယ်၍ ကျွန်ုပ်တို့အလိုရှိလျှင် ဤ(ကုရ်အာန်)ကဲ့သို့ လုပ်နိုင်ကြပါသည်" ဟု ဆိုခဲ့ကြ၏။ ကြည့်- ကုရ်အာန် (၈း၃၁)။ မဒီနာမြို့ရှိမုနာဖစ်က်များမှာကား တမန်တော်မြတ်နှင့် မွတ်စ်လင်မ်တို့ရှေ့မှောက်တွင် အမိန့်တော် နာခံပါမည့်အကြောင်း နှုတ်အားဖြင့်ဝန်ခံကြလေသည်။ သို့ရာတွင် စိတ်တွင်းမှငြင်းပယ်ကြလေသည်။ မုအ်မင်န်များသည် အထက်တွင်ဖော်ပြပါ ယဟူဒီများ၊ မုရှ်ရစ်က်များနှင့် မုနာဖစ်က်များကဲ့သို့ မဖြစ်ကြရ။ မုအ်မင်န်တို့မူကား ကိုယ်ဖြင့်လည်းကောင်း၊ နှုတ်ဖြင့်လည်းကောင်း၊ စိတ်ဖြင့်လည်းကောင်း၊ မျက်မှောက်တွင်လည်းကောင်း၊ မျက်ကွယ်တွင်လည်းကောင်း၊ အချိန်အခါမရွေး အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များနှင့် တမန်တော်မြတ်၏ ဩဝါဒတော်များကို ကြည်ဖြူစွာ သက်စွန့်ကြိုးပမ်း လိုက်နာ ကျင့်သုံးကြရမည်ဖြစ်သည်။

၂၂။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်အထံတော်တွင် အဆိုးဆုံးသတ္တဝါသည် အကြင် ဆွံ့အ၊ နားပင်းသောသတ္တဝါများပင် ဖြစ်ကြကုန်၏။ ထိုသတ္တဝါတို့သည်ကား (မည်သည့်တစုံတရာကိုမျှ) မသိနားမလည်ကြချေ။ ၁

إِنَّ شَرَّ الدَّوَابِّ عِندَ اللَّهِ الصُّمُّ الْبُكْمُ الَّذِينَ لَا يَعْقِلُونَ ﴿٢٢﴾

၂၃။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့တွင်တစုံတရာကောင်းမွန်သော အချက်ကို အကယ်၍သာ သိမြင်တော်မူခဲ့ပါမူ ၎င်းတို့အား မုချ ကြားနာစေတော်မူခဲ့အံ့။ သို့ရာတွင် (ယခုသော်ကား) ၎င်းတို့အား အကယ်၍ ကြားနာစေတော်မူသည့်တိုင်အောင် မလွဲဧကန် ၎င်းတို့သည် ဂရုမစိုက်ပဲ လွှဲဖယ်တိမ်းရှောင်သွားကြမည်သာတည်း။ ၂

وَلَوْ عَلِمَ اللَّهُ فِيهِمْ خَيْرًا لَّأَسْمَعَهُمْ ۖ وَلَوْ أَسْمَعَهُمْ لَتَوَلَّوا وَّهُم مُّعْرِضُونَ ﴿٢٣﴾

---

(၁) အလ္လာဟ်အရှင်မြတ်သည် ပြောဆိုရန် နှုတ်လျှာပေးတော်မူ၏။ ကြားရန် နားပေးထားတော်မူ၏။ နားလည်နိုင်ရန် စိတ်နှလုံး၊ ဦးနှောက်ပေးထားတော်မူ၏။ သို့ပါလျက် အကြင်သူများသည် ဤသည့်စွမ်းအားများကို အသုံးမပြုပဲ အချည်းနှီး ပြုလုပ်ထားကြ၏။ (ဝါ) နှုတ်ဖြင့် အမှန်စကားကို မပြောကြ။ မမေးကြ။ နားဖြင့် အမှန်စကားကို နားမထောင်ကြ။ စိတ်၊ ဦးနှောက်ဖြင့်လည်း အမှန်စကားကို နားလည်ရန် မကြိုးစားကြ။ (ဝါ)၎င်းတို့သည် မိမိတို့အား အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသော အစွမ်းသတ္တိများကို ချီးမြှင့် ထားတော်မူခြင်း၏ အဓိကအလုပ်များတွင် အသုံးမပြုကြ။ သို့ဖြစ်ပေရာ ထိုသို့သောသူများသည် တိရစ္ဆာန်များ ထက်ပင် ပိုမိုဆိုးရွားကြသည်မှာ ထင်ရှားလှပေသည်။

ဤမုက္ခပါဌ်တော်၏ အနက်သဘောကို ပိုမိုသိရှိ နားလည်နိုင်ရန်အတွက် ကုရ်အာန် (၇း၁၇၉)ကို ရှုပါကုန်။

(၂) ဤကာဖိရ်များတွင် ကောင်းကျိုးချမ်းသာ ရရှိမှု၏ မူလအခြေခံပင် မရှိချေ။ အဘယ့်ကြောင့်ဆိုသော် ၎င်းတို့၏ စိတ်နှလုံးများတွင် အမှန်တရားကိုလိုလားသည့် မှန်ကန်သော အာသာဆန္ဒလည်း မရှိပေ။ အမှန်တရားကို လက်ခံနာယူနိုင်သည့် အရည်အချင်းလည်းမရှိပေ။ ထိုသို့သောအရည်အချင်း ရှိသည့်အခါမျိုး၌သာလျှင် လူသားတို့သည် မှန်ကန်သော ကောင်းကျိုးချမ်းသာမှုကို ရရှိနိုင်ကြပေသည်။ ဤကာဖိရ်များတွင် အမှန်တရားကို လိုလားသည့် အာသာဆန္ဒလည်းမရှိ။ အမှန်တရားကို လက်ခံနာယူနိုင်သည့် အရည်အချင်းလည်းမရှိ။ ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ်က မိမိတို့အား ချီးမြှင့်ထားတော်မူသော အစွမ်းသတ္တိများကိုပင်လျှင် အချည်းနှီးဖြစ်အောင် ဖျက်ဆီးထားကြ၏။ ယင်းသို့ အစွမ်းသတ္တိများကို အသုံးမပြုကြသည့်အခါ အမှန်တရားကို လက်ခံနာယူလိုသည့် အရည်အချင်းများသည် တဖြည်းဖြည်း ပျောက်ကွယ်သွားလေတော့သည်။ ဤသည့်အချက်ကိုပင် ဤမုက္ခပါဌ်တော်တွင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။



يَآيُّهَا الَّذِيْنَ اٰمَنُوا اسْتَجِيْبُوْا لِلّٰهِ وَلِلرَّسُوْلِ اِذَا دَعَاكُمْ لِمَا يُحْيِيْكُمْ ۚ وَاعْلَمُوْٓا اَنَّ اللّٰهَ يَحُوْلُ بَيْنَ الْمَرْءِ وَقَلْبِهٖ وَاَنَّهٗٓ اِلَيْهِ تُحْشَرُوْنَ ۝٢٤

၂၄။ အို- "မုအ်မင်န်" သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် အလ္လာဟ် အရှင်မြတ်နှင့် ရစူလ်တမန်တော်၏ အမိန့်တော်များကို ထို ရစူလ်တမန်တော်သည် အသင်တို့ကို အသင်တို့ အသက်ရှင်စေနိုင်သော အကြောင်းများသို့ ဖိတ်ခေါ်သော အခါ *လိုက်နာကြလေကုန်။* [၁] ထိုမှတပါး ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် လူနှင့် လူ၏စိတ်နှလုံးအကြားတွင် အကာအဆီး ဖြစ်တော်မူသည်ကို လည်းကောင်း၊ ထို့ပြင် အသင်တို့သည် ဧကန်မလွဲ ထိုအရှင်မြတ်၏ အထံတော်၌ပင် စုံရုံးကြရမည်ကို လည်းကောင်း၊ အသင်တို့သည် ကောင်းစွာ သိထားကြလေကုန်။

---

➤➤ အလ္လာဟ် အရှင်မြတ်သည် ဤ ကာဖိရ်များ၏ စိတ်နှလုံး များတွင် အမှန်တရားကို လက်ခံနာယူလိုသည့် စွမ်းရည်ကို မြင်တော်မမူပေ။ အကယ်၍ ၎င်းတို့တွင် ယင်းစွမ်းရည်သည် အနည်းငယ်မျှပင် ရှိသော် ထို အရှင်မြတ်သည် ၎င်းတို့အား မိမိ၏ စွန္နတ်တော် အတိုင်း ဒေသနာတော်များကို မုချ ကြားနာစေတော်မူမည်သာ ဖြစ်သည်။ သို့ရာတွင် ယခုလက်ရှိ အခြေအနေတွင် ထို ကာဖိရ်များအား တရား ဒေသနာတော်များကို ကြားနာစေတော် မူခဲ့သည့်တိုင်အောင် ၎င်းတို့သည် သွေဖည် ကျောခိုင်း သွားကြမည်သာ ဖြစ်သည်။

(၁) (က) မွတ်စ်လင်မ်တို့အား လိုက်နာဆောင်ရွက်ရန် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ် ဖိတ်ကြားတော် မူသည့် ဂျီဟာဒ် အစရှိသည့် လုပ်ငန်းများသည် မွတ်စလင်မ်တို့အဖို့ စ၊ လယ်၊ ဆုံး အကောင်းချည်းသာဖြစ်၏။ ထိုဖိတ်ကြားချက်များသည် မွတ်စ်လင်မ်တို့အဖို့ ဤပစ္စက္ခဘဝ၌ ဂုဏ်သိက္ခာရှိရှိ အေးချမ်းသာယာစွာ အသက်ရှင် နေနိုင်ရန်နှင့် နောင်တမလွန်ဘဝ၌ အမတ ဇီဝ၊ ထာဝရရှင်နေရန် အကြောင်းတရားများပင် ဖြစ်သည်။ သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ် ဖိတ်ခေါ်တော်မူသည့်အခါ မွတ်စ်လင်မ်တို့သည် မိမိတို့၏ အလုပ်အကိုင်များကိုပင် စွန့်လွှတ်၍ မဆိုင်းမတွ ဆောလျင်စွာ လိုက်နာကြရမည် ဖြစ်သည်။

(ခ) အမိန့်တော်များကို နာခံရာတွင် ဖင့်နွှဲမှု အလျင်းမရှိစေရ။ အဘယ်ကြောင့်ဆိုသော် စိတ်သည် ပြောင်းလဲတတ်သည်။ စိတ်သည် သူ၏လက်တွင် မရှိပေ။ အမှန်မှာ အလ္လာဟ်အရှင်မြတ်၏ လက်တွင်း၌သာ ရှိသည်။ ထိုအရှင်မြတ်သည် စိတ်ကို အလိုရှိရာသို့ လှည့်တော်မူနိုင်သည်။ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် မည်သူတဦးတယောက်၏ စိတ်ကိုမျှ အစပထမတွင် တားဆီးတော်မူသည်မရှိချေ။ ထိုစိတ်ပေါ်တွင် တံဆိပ်ခပ်နှိပ်တော်မူသည်မရှိ။ သို့ရာတွင် လူသားတဦးသည် အမိန့်တော်များကို လိုက်နာကျင့်သုံးရာတွင် ပျင်းရိဖင့်နွှဲလာသည့်အခါ ထိုအရှင်မြတ်သည် ယင်းသို့ ပျင်းရိဖင့်နွှဲခြင်း၏ ပြစ်ဒဏ်အနေဖြင့် စိတ်နှလုံးကို တားဆီးထားတော်မူသည်။ ထို့ပြင်တဝ လူသားသည် အမှန်တရားကို အလိုမှန်းတည်း ➤➤

وَاتَّقُوا فِتْنَةً لَّا تُصِيبَنَّ الَّذِينَ ظَلَمُوا مِنكُمْ خَاصَّةً ۖ وَاعْلَمُوا أَنَّ اللَّهَ شَدِيدُ الْعِقَابِ ﴿٢٥﴾

၂၅။ ၎င်းပြင် အသင်တို့သည် အကြင် ပြစ်ဒဏ်မှ ကြဉ်ရှောင်ကြလေကုန်။ ထိုပြစ်ဒဏ်သည် အသင်တို့ အနက်မှ *မတရားကျူးလွန်သူတို့ အပေါ်၌သာလျှင် သီးသန့်၍ အလျင်း သက်ရောက်လိမ့်မည် မဟုတ်ပေ။*[၁] ထိုမှတပါး ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည့် (ပြစ်မှုဒုစရိုက်ကျူးလွန်သူတို့အား) ပြင်းထန်စွာ ပြစ်ဒဏ် စီရင်တော်မူသောအရှင် ဖြစ်တော်မူသည်ကိုလည်း (ကောင်းစွာ) သိထားကြလေကုန်။

➤➤ ခြင်းကြောင့် အမှန်တရားကို ပစ်ပယ်လာသည့်အခါ ထိုအရှင်မြတ်သည် ထိုသို့သောသူ၏ စိတ်နှလုံးပေါ်တွင်မူ တံဆိပ်ခပ်နှိပ်တော်မူလေသည်။ "မုသ္တိဟုလ်ကုရ်အာန်" ကျမ်းတွင် ဤသို့ပင် ဖွင့်ဆိုရေးသားထားသည်ကို တွေ့ရှိရသည်။

လူသားသည် မိမိ၏စိတ်နှလုံးနှင့် နီးကပ်သည်ထက် အလ္လာဟ်အရှင်မြတ်သည် ပို၍ နီးကပ်တော်မူသည်။ ကြည့်– ကုရ်အာန် (၅၀း၁၆)။ အလ္လာဟ်အရှင်မြတ်သည် လူသားတို့ စိတ်တွင်းရှိ အဖြစ်အပျက်များကို လူသားတို့ထက် ပို၍သိတော်မူသည်။ ထိုအရှင်မြတ်၏ရှေ့တော်တွင် ထိန်ချန်ထားခြင်းလည်း အလျင်းမဖြစ်နိုင်ပေ။ လူသားအားလုံးတို့သည်လည်း တနေ့သော် ထိုအရှင်မြတ်၏ထံတော်သို့ ရောက်ရှိကြရမည် ဖြစ်သည်။ လူသားတို့ ဖုံးဖိ လျှို့ဝှက်ထားသော အရာများသည်လည်း ထိုအရှင်မြတ်၏ ရှေ့တော်မှောက်တွင် ထင်ရှားပေါ်လွင်သွားမည် ဖြစ်သည်။ သို့ဖြစ်ပေရာ လူသားတို့သည် ထိုအရှင်မြတ်၏ အမိန့်တော်များကို ကြည်ဖြူဆောလျင်စွာ လိုက်နာကျင့်သုံးကြရမည် ဖြစ်သည်။

(၁) အုပ်စုတစုတွင် ဥပမာ–အချို့သည် အပြစ်ကျူးလွန်ကြ၏။ အချို့သည် အပြစ်ကိုကြဉ်ရှောင်ကြ၏။ သို့ရာတွင် အပြစ်ကြဉ်ရှောင်သောသူများသည် အပြစ်ကျူးလွန်နေသူများအား ရှိသမျှသော စွမ်းအားဖြင့်ပင် ပိတ်ပင်တားဆီးရန် မကြိုးစားခဲ့ကြပေ။ ဤသို့အားဖြင့် အပြစ်ကြဉ်ရှောင်သူများသည်လည်း ပြစ်မှုကျူးလွန်နေသူ များအား စွမ်းအားရှိသမျှ တားဆီးခြင်းမပြုပဲ နေခဲ့ကြသည့်အတွက် တာဝန်ပေါ့လျော့ရာ ရောက်ကြပေသည်။ တနည်း– မှုပြစ်တွင် ပါဝင်ရာ ရောက်ကြပေသည်။

အစ္စလာမ် သာသနာသည် မွတ်စ်လင်မ်တို့အား အလွန် မြင့်မားသော အဆင့်အတန်းသို့ ပို့ဆောင်လိုသည်။ အစ္စလာမ် တရားသဘောအရ မွတ်စ်လင်မ်တဦးသည် သူတော်စင်များဘောင်တွင် ရောက်ရုံမျှဖြင့် မလုံလောက်သေးပေ။ မွတ်စ်လင်မ်တိုင်းသည် မိမိကိုယ်တိုင် သူတော်စင်ဖြစ်၍ တတ်စွမ်းနိုင်သမျှ သူတပါးတို့အား သွန်သင်ဆုံးမရမည်။ ပြုပြင်ပေးရမည်။ ကောင်းရာကိုညွှန်ရမည်။ မကောင်းရာမှ မြစ်တားရမည်။ အဘယ်ကြောင့်ဆိုသော် အစ္စလာမ် တရားတော်တွင် အပြစ်ကိုသော် လည်းကောင်း၊ ပြစ်မှု ကျူးလွန်သူကိုသော် လည်းကောင်း၊ လျစ်လျူရှု ထားခြင်းသည်လည်း အပြစ်တရပ်ပင် ဖြစ်ပေသည်။

ဤအကြောင်းနှင့် ပတ်သက်၍ ထာနဝီသခင်က အောက်ပါအတိုင်း ဖွင့်ဆိုရေးသားထားသည်။

မိမိကိုယ်ကို ပြုပြင်ရန်နှင့် ပတ်သက်၍ အမိန့်တော် နာခံခြင်းသည် "ဝါဂျစ်ဗ်" တာဝန် ဖြစ်သကဲ့သို့ မိမိတတ်စွမ်းနိုင်သမျှ သူတပါးတို့အား ကာယကံအားဖြင့်ဖြစ်စေ၊ ဝစီကံအားဖြင့်ဖြစ်စေ၊ ကောင်းရာကို ➤➤

➤➤ ညွှန်ခြင်း၊ သို့တည်းမဟုတ် နောက်ဆုံးအဆင့်အတန်း ဖြစ်သည့် စိတ်တွင် စက်ဆုပ်ရွံ့ရှာခြင်းသည်လည်း "ဝါဂျစ်ဗ်" တာဝန်ပင်ဖြစ်သည်။ သို့မဟုတ်ပါမူ တာဝန်ပေါ့လျော့သည့် အပြစ်တွင် ပြစ်မှုကျူးလွန်သော သူများအပေါ်၌ ပြစ်ဒဏ်သက်ရောက်သကဲ့သို့ တာဝန်ပေါ့လျော့သူများ အပေါ်တွင်လည်း နည်းများမဆို မုချ သက်ရောက်မည်ဖြစ်သည်။

ဤမုက္ခပါဠ်တော်နှင့် ပတ်သက်၍ သာဝကကြီး အဗ်ဒုလ္လာဟ် အီဗ်နအဗ္ဗာစ်သခင်ထံမှ ဤသို့ တဆင့်ကြားသိရ၏။ အလ္လာဟ်အရှင်မြတ်သည် မုအ်မင်န်တို့အား ယင်းတို့တွင် ပြစ်မှုများကို မတည်ရှိ နေစေရန်အတွက် အလ္လာဟ်အရှင်မြတ်က အမိန့်ပေးထားတော်မူသည်။ သို့မဟုတ်ပါမူ ၎င်းတို့အားလုံး အပြစ်ဒဏ်ကို ပေးတော်မူမည် ဖြစ်သည်။ ဤအဖွင့်သည် အကောင်းဆုံးပင် ဖြစ်သည်။ (အီဗ်နုကဆီရ်)

တမန်တော်မြတ်က မိန့်ကြားတော်မူသည်မှာ အလ္လာဟ်အရှင်မြတ်သည် လူတစု၏ အပြစ်ကြောင့် အားလုံးတို့အား ပြစ်ဒဏ်ပေးတော်မူသည် မဟုတ်။ သို့ရာတွင် လူများသည် မိမိတို့၏စပ်ကြားတွင် ဖြစ်ပေါ်နေသော မကောင်းမှုများကို ပိတ်ပင် တားဆီးနိုင်ပါလျက် ပိတ်ပင် တားဆီးခြင်းမပြုပဲ လက်ပိုက်ကြည့်နေကြသော် ထိုအချိန်တွင်မူ အလ္လာဟ် အရှင်မြတ်သည် (ပြစ်မှုကျူးလွန်သော) လူတစုကိုလည်းကောင်း၊ (လက်ပိုက်ကြည့်နေသော) လူများစုကိုလည်းကောင်း၊ ပြစ်ဒဏ်ပေးတော်မူလေသည်။

ဤသည် အဒီအီဗ်နအုမိုင်ရဟ် သခင်ထံမှ တဆင့်ကြားသိရသော ကျမ်းချက်တည်း။ (အီဗ်နုကဆီရ်)

သာဝကကြီး နုအ်မာန်အီဗ်န ဗရှီရ်သခင်သည် မိမိ၏လက်ညှိုးနှစ်ချောင်းဖြင့် မိမိ၏ နားနှစ်ဖက်သို့ညွှန်လျက် တရားဓမ္မဩဝါဒ ပေးခဲ့သည်မှာ- အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို လိုက်နာသူ၊ သွေဖည်သူနှင့် ပေါ့လျော့သူများ၏ ဥပမာသည် သင်္ဘော စီးကြသော ခရီးသည် လူတစုနှင့်တူသည်။

ထိုလူတစုအနက် အချို့သည် သင်္ဘော အထက်ထပ်တွင် စီးကြ၏။ အချို့တို့သည် သင်္ဘောအောက်ထပ်တွင်စီးကြ၏။ အောက်ထပ်တွင်စီးသောသူများသည် ရေသောက်သုံး လိုကြသည့်အခါ အထက်ထပ်တွင် ရှိသောသူများထံသို့ သွားကြသည်။ အထက်ထပ်တွင် ရှိသောသူများသည် အောက်ထပ်မှ ရေတောင်းသူများအား ဒုက္ခပေးကြ၏။

ထိုအခါ အောက်ထပ်တွင် ရှိသူများက ကျွန်ုပ်တို့သည် မိမိတို့၏ ရေရေးအတွက် (သင်္ဘောအောက်)ကို ဖောက်ကြမည်။ ထိုအပေါက်မှ ရေသောက်သုံးကြမည်။ အထက်ထပ်တွင်ရှိ လူများ၏ ဒုက္ခပေးမှုကိုလည်း ခံကြရမည် မဟုတ်ဟု ပြောဆိုကြလေသည်။

ထိုအချိန်တွင် အထက်ထပ်ရှိ လူများသည် အောက်ထပ်ရှိလူများအား လျစ်လျူပြု၍ သင်္ဘောဖောက်ခွင့် ပြုထားပါလျှင် အားလုံးသေကြမည် ဖြစ်သည်။ အကယ်၍ အထက်ထပ်ရှိ လူများသည် အောက်ထပ်ရှိ လူများအား (ရေပေး၍) သင်္ဘောဖောက်ခြင်းမှ လာရောက် တားဆီးကြပါလျှင် အားလုံး ချမ်းသာကြမည် ဖြစ်သည်။

(အီဗ်နုကဆီရ်) အ-၂။ စ-၂၉၉။

وَاذْكُرُوٓا إِذْ أَنتُمْ قَلِيلٌ مُّسْتَضْعَفُونَ فِى الْأَرْضِ تَخَافُونَ أَن يَتَخَطَّفَكُمُ النَّاسُ فَـَٔاوَىٰكُمْ وَأَيَّدَكُم بِنَصْرِهِۦ وَرَزَقَكُم مِّنَ الطَّيِّبَٰتِ لَعَلَّكُمْ تَشْكُرُونَ ٢٦

၂၆။ တဖန် အသင်တို့သည် ပြန်လည်၍ သတိရကြလေကုန်။ တရံရောအခါဝယ် အသင်တို့သည် (အရေအတွက်အားဖြင့်) အနည်းငယ်မျှသာ ရှိကြကုန်၏။ တိုင်းပြည်တွင် အင်အားနည်းပါးသူများ(လည်း) ဖြစ်ခဲ့ကြကုန်၏။ (သို့ဖြစ်ပေရာ) အသင်တို့သည် မိမိတို့အား သူတပါးတို့က ရုတ်တရက်အားဖြင့် (ပြုတ်ပြုန်းအောင်) လုယက်တိုက်ခိုက် သတ်ဖြတ်ကြမည်ကို စိုးရိမ်လျက်ရှိကြကုန်၏။ ထို့နောက် ထို (အလ္လာဟ်)အရှင်မြတ်သည် အသင်တို့ ကျေးဇူးတော်ကို သိတတ်ကြအံ့သောငှာ အသင်တို့အား ခိုကိုးရန် နေရာချပေးတော်မူခဲ့လေသည်။ ၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့အား မိမိ၏အကူအညီဖြင့် အင်အား(လည်း)ဖြည့်၍ ပေးတော်မူခဲ့လေသည်။ ထိုမှတပါး အသင်တို့အား သန့်ရှင်းစင်ကြယ်သော ရိက္ခာများကို (လည်း) ချီးမြှင့်ပေးသနားတော်မူခဲ့လေသတည်း။ ၁

(၁) ဤမုက္ခပါဌ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့အပေါ်၌ ပြုတော်မူခဲ့သော မိမိ၏ ကျေးဇူးတော်များကို ဖွင့်ဟ မိန့်ဆိုထားတော်မူသည်။ မွတ်စ်လင်မ်တို့သည် "ဟစ်ဂျ်ရတ်" မပြုလုပ်မီ အချိန်တွင်လည်းကောင်း၊ ဟစ်ဂျ်ရတ်လုပ်ပြီးသည့်နောက် အတန်ကြာသည်အထိလည်းကောင်း၊ လူဦးရေသည် အနည်းငယ်မျှသာ ဖြစ်ခဲ့ကြသည်။ ဥစ္စာပစ္စည်းလည်း မရှိခဲ့ကြပေ။ အဖက်ဖက်တွင် မွတ်စ်လင်မ်တို့၏ အင်အားချည့်နဲ့မှုကိုကြည့်ပြီး ကာဖိရ်များသည် မွတ်စ်လင်မ်တို့အား ဝါးမျိုလိုကြသည်။ မွတ်စ်လင်မ်တို့သည်လည်း မိမိတို့အား ရန်သူများက ရုတ်တရက် လုယက်တိုက်ခိုက် သတ်ဖြတ်ကြမည်ကို အချိန်မရွေး စိုးရိမ်ကြောင့်ကြလျက် ရှိခဲ့ကြပေသည်။ ယင်းသို့ အဖက်ဖက်တွင် နိမ့်ကျပြီး အချိန်မရွေး ပူပန်သောက စိုးရိမ်ကြောင့်ကြလျက် ရှိကြသည့်အချိန်တွင် အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့အား မဒီနာမြို့တွင် နေရာချထားပေးတော်မူလေသည်။ "အန်ဆွာရ်" နှင့် "မုဟာဂျစ်ရ်" တို့စပ်ကြားတွင် အံ့ဘွယ်သရဲညီနောင် ဖွဲ့ပေးတော်မူလေသည်။ "ဗဒ်ရ်" စစ်မြေပြင်တွင် မွတ်စလင်တို့အား အကွယ်မှအကူအညီ ပေးတော်မူခဲ့သဖြင့် မွတ်စ်လင်မ်တို့သည် ရန်သူများအား ချေမှုန်းနိုင်ခဲ့ကြလေသည်။ သုံ့ပန်းနှင့် လက်ရပစ္စည်း အမြောက်အများကို သိမ်းပိုက်ရရှိခဲ့ကြလေသည်။ အချုပ်အားဖြင့် အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့အား အလွန်နိမ့်ကျနေသည့် အခြေအနေမှ အလွန်ကောင်းမွန် မြင့်မြတ်သော အခြေသို့ ပို့ဆောင်တော်မူခဲ့လေသည်။ စားနပ်ရိက္ခာ အဖြာဖြာတို့ကိုလည်း ပေးသနားတော်မူခဲ့လေသည်။ သို့ဖြစ်ပေရာ မွတ်စ်လင်မ်တို့သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို သိကြရမည်။ အမိန့်တော်များကို နာခံရာတွင် မဖင့်နွှဲကြရ။

يَا أَيُّهَا الَّذِينَ آمَنُوا لَا تَخُونُوا اللَّهَ وَالرَّسُولَ وَتَخُونُوا أَمَانَاتِكُمْ وَأَنْتُمْ تَعْلَمُونَ ﴿٢٧﴾

၂၇။ "အို - မုအ်မင်န်" သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ စောင့်ထိန်းအပ်သော တာဝန်ဝတ္တရားများကိုလည်းကောင်း၊ ရစူလ်တမန်တော်နှင့်ပတ်သက်၍ စောင့်ထိမ်းအပ်သော တာဝန်ဝတ္တရားများကိုလည်းကောင်း၊ *အလွဲသုံးစားမပြုကြကုန်လင့်။* [၁] ထိုနည်းတူစွာ အသင်တို့သည် မိမိတို့ယုံကြည်အပ်နှံခြင်း ခံကြရသောကိစ္စများကိုလည်း သစ္စာအလွဲသုံးစား မပြုကြကုန်လင့်။ အမှန်မှာ အသင်တို့သည် (အလွဲသုံးစားပြုခြင်းဖြင့် ဖြစ်ပေါ်လာမည့်ဆိုးရွားမှုများနှင့် အလွဲသုံးစားပြုခြင်းသည် ဟရာမ်ဖြစ်သည်ကို) အသိပင် ဖြစ်ကြပေသည်။

---

(၁) အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍လည်းကောင်း၊ တမန်တော်မြတ်နှင့် ပတ်သက်၍လည်းကောင်း၊ "ခယာနတ်" အလွဲသုံးစား ပြုခြင်းဟူသည် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်၏ အမိန့်ဩဝါဒများကို သွေဖည်ဆန့်ကျင်ခြင်းကိုပင် ဆိုလိုသည်။ မွတ်စ်လင်မ်ဖြစ်ပါသည်ဟု နှုတ်ဖြင့်ဆို၍ ကာဖိရ်တို့ကဲ့သို့ပြုမူခြင်း၊ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ် လွှဲအပ်ထားတော်မူသော တာဝန်များတွင် ဖောက်လွှဲဖောက်ပြန် ပြုလုပ်ခြင်း၊ လက်ရပစ္စည်းများကို ခိုးဝှက်ခြင်း၊ စသည်တို့သည်လည်း ဤမုက္ခပါဠ်တော်လာ အလွဲသုံးစား မပြုကြရဟူသော ပညတ်တော်တွင် အကျုံးဝင်ပေသည်။ တနည်းဆိုသော် ဤမုက္ခပါဠ်တော်တွင် အလ္လာဟ် အရှင်မြတ်နှင့် ပတ်သက်၍ ထိန်းသိမ်း စောင့်ရှောက်ရမည့် တာဝန်များ၊ လူသားတို့ အချင်းချင်း ထိန်းသိမ်း စောင့်ရှောက်ရမည့် တာဝန်များအနက် မည်သည့်တာဝန်ကိုမျှ ဖောက်လွှဲဖောက်ပြန် မပြုလုပ်ရမည့်အကြောင်း မိန့်ဆိုထားတော်မူပေသည်။

ဤမုက္ခပါဠ်တော်ကို ထုတ်ပြန်ပို့ချတော်မူသည့် အကြောင်းနှင့် စပ်လျဉ်း၍ "တဖ်စီရ်" ကျမ်းကြီးများတွင် အဆိုအမျိုးမျိုး လာရှိပေသည်။

(က) တမန်တော်မြတ်သည် "ဗနီကုရိုင်ဇွဟ်" မျိုးနွယ်ဝင် ယဟူဒီများကို (၂၁)ညဥ့်တိုင် စစ်တပ်ဖြင့် ဝိုင်းထားတော်မူသည့်အခါ ယဟူဒီများက တမန်တော်မြတ်အား ၎င်းတို့၏နောင်တော်များဖြစ်သော "ဗနီနသွီရ်" မျိုးနွယ်နှင့် စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုတော်မူသကဲ့သို့ ၎င်းတို့နှင့်လည်း စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆို၍ ၎င်းတို့အား ဆီရိယနိုင်ငံ စိမ်းစိုကျယ်ဝန်းသောဒေသကို ရွှေ့ပြောင်းသွားခွင့် ပြုတော်မူရန် မေတ္တာရပ်ခံကြရာ တမန်တော်မြတ်က "ဤသို့မဖြစ်နိုင်" သို့ရာတွင် အသင်တို့သည် စအိဒ်အိဗ်နုမုအာဇ်အား ခုံသမာဓိ တင်မြှောက်၍ သူ၏အဆုံးအဖြတ်ကို နာခံကြကုန်ဟု မိန့်ဆိုတော်မူလေသည်။ ထိုအခါ ယဟူဒီများက ငြင်းပယ်၍ အဗူလုဗာဗဟ်အား ၎င်းတို့ထံ စေလွှတ်ပေးတော်မူရန် မေတ္တာရပ်ခံကြရာ တမန်တော်မြတ်သည် အဗူလုဗာဗဟ်အား ၎င်းတို့ထံ စေလွှတ်ပေးတော်မူခဲ့လေသည်။ အဗူလုဗာဗဟ်သည် ယဟူဒီများအား ထောက်ထားညှာတာ၏။ ➤➤

وَاعْلَمُوٓا أَنَّمَآ أَمْوَالُكُمْ وَأَوْلَادُكُمْ فِتْنَةٌ ۙ وَأَنَّ اللّٰهَ عِنْدَهٗٓ أَجْرٌ عَظِيْمٌ ﴿٢٨﴾

၂၈။ ထို့ပြင် အသင်တို့၏ဥစ္စာပစ္စည်းများနှင့် သားသမီးများသည်စမ်းသပ်မှုတရပ်သာလျှင် [၁] ဖြစ်သည်ကို လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အထံတော်တွင် အလွန်ကြီးကျယ်သော အကျိုးဆုလာဘ်သည် ဧကန်စင်စစ် ရှိသည်ကိုလည်းကောင်း၊ အသင်တို့ (ကောင်းစွာ) သိထားကြလေကုန်။

---

➤➤ အဘယ်ကြောင့်ဆိုသော် အဗူလုဗာဗဟ်၏ ဥစ္စာပစ္စည်း၊ သားသမီးများသည် ၎င်းတို့ထံတွင် ရှိနေခြင်းကြောင့် ဖြစ်သည်။ ယဟူဒီများက အဗူလုဗာဗဟ်အား ကျွန်ုပ်တို့သည် စအ်ဒ်အီဗ်နုမုအာဇ်၏အဆုံးအဖြတ်ကို လက်ခံသင့် မခံသင့် မေးမြန်းကြရာ အဗူလုဗာဗဟ်က မိမိ၏လည်ပင်းသို့ လက်ညှိုးထိုး၍ ပြလေသည်။ (ဆိုလိုသည်ကား အသင်တို့သည် စအ်ဒ်အီဗ်နုမုအာဇ်အား ခုံတင်၍ အဆုံးအဖြတ် ခံယူကြလျှင် အားလုံး လည်ပင်းပြတ်လိမ့်မည် ဟူ၍)။ အဗူလုဗာဗဟ်သည် ယင်းကဲ့သို့ ညွှန်ပြပြီးနောက် ချက်ချင်းပင် သတိရသည်မှာ ငါဤသို့ ညွှန်ပြခြင်းမှာ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်အား သစ္စာဖောက်ရာကျလေပြီဟု သိရှိလာလေသည်။ ထို့နောက် ပြန်လာပြီးလျှင် မိမိကိုယ်ကို မတ်စ်ဂျစ်ဒ်ပလီ၏ တိုင်တတိုင်တွင် ကြိုးဖြင့်ခြည်နှောင်ပြီး အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ သစ္စာအဓိဋ္ဌာန်ပြုသည်မှာ ကျွန်ုပ်သည် အကြင်အချိန်တိုင်း တစုံတရာ စားသောက်မည်မဟုတ်။ ထိုအချိန်တိုင် ကျွန်ုပ်သည် သေသွားမည်လည်းဖြစ်သည်။ သို့တည်းမဟုတ် အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်အား ချမ်းသာခွင့် ပေးတော်မူမည်လည်း ဖြစ်သည်။ အဗူလုဗာဗဟ်သည် ၇-ရက်တိုင်တိုင် ယင်းကဲ့သို့ပင် ခြည်နှောင်လျက် နေခဲ့၏။ ဆာလောင်မွတ်သိပ်သည့်အတွက် မူးလဲ၍သွားခဲ့၏။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် အဗူလုဗာဗဟ်အား ချမ်းသာခွင့်ပေးတော်မူလိုက်လေသည်။ ယင်းသို့ ခွင့်လွှတ်တော်မူလိုက်သည့် ကောင်းချီးသတင်းကို အဗူလုဗာဗဟ်အား ပြောကြားသောအခါ အဗူလုဗာဗဟ်က ကျွန်ုပ်၏ကြိုးကို တမန်တော်မြတ်ကြွရောက်၍ ကိုယ်တိုင် မဖြေသမျှကာလပတ်လုံး ကျွန်ုပ်သည် မိမိကိုယ်တိုင်ဖြေမည်မဟုတ်ဟု ပြောဆိုလေသည်။ နောက်ဆုံးတွင် မိမိကိုယ်ကိုမိမိလက်ဖြင့် မိမိကိုယ်တိုင် ခြည်နှောင်ထားသောတရားခံကို တမန်တော်မြတ်ကိုယ်တော်တိုင် ကြွရောက်လာပြီး ဖြေပေးတော်မူလိုက်လေသည်။ ထိုအခါအဗူလုဗာဗဟ်က ကျွန်ုပ်၏ ပြည့်ဝစုံလင်သောဝန်ချတောင်းပန်မှုသည် ကျွန်ုပ် ပြစ်မှုကျူးလွန်မိခဲ့သောဌာနကို စွန့်ခွာခြင်းဖြင့်သော်လည်းကောင်း၊ မိမိ၏ဥစ္စာပစ္စည်းများကို စွန့်လွှတ်လှူဒါန်းခြင်းဖြင့်သော်လည်းကောင်း၊ ဖြစ်နိုင်ပေမည်ဟု လျှောက်ထားရာ တမန်တော်မြတ်က အသင့်အဖို့ ပစ္စည်းသုံးပုံတပုံ လှူဒါန်းခြင်းသည် လုံလောက်ပေသည်ဟု မိန့်ကြားတော်မူလေသည်။ "အိဗ်နုအဗ်ဒုလ်ဗရ်" ၏ ယူဆချက်အရ သာဝကကြီး အဗူလုဗာဗဟ်က ယင်းသို့ မိမိကိုယ်ကို ခြည်နှောင်ခြင်းမှာ တဗူက်စစ်ပွဲသို့ မပါဝင်နိုင်ခဲ့သည့်အတွက်ဖြစ်သည်။

(ခ) ဤမုက္ခပါဠ်တော်သည် မက္ကာမြို့တော်ကို ပြန်လည်သိမ်းပိုက်ရန် တမန်တော်မြတ်စစ်ချီစဉ် ကုရိုက်ရှ်မျိုးနွယ်ဝင်များထံသို့ လျှို့ဝှက်စွာ သတင်းပေးပို့ခဲ့သော သာဝကကြီး ဟာတစ်ဗ်ီအိဗ်နုအဗီဗလ် တအဟ်နှင့် ပတ်သက်၍ ကျရောက်ခဲ့သည်ဟု အချို့ကအဆိုရှိကြသည်။ (အိဗ်နုကဆီရ်) အ- ၂။ စ- ၃၀၁။

(၁) များသော အားဖြင့် ဥစ္စာပစ္စည်း သားသမီးတို့၏ နှစ်သက် ချစ်ခင်မှုသည် အမိန့်တော်များကို နာခံရာတွင် အနှောင့်အယှက် ဖြစ်စေတတ်သည်။ ထို့အတွက်ကြောင့် ဤ မုက္ခပါဠ်တော်တွင် ဥစ္စာပစ္စည်း၊ ➤➤

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوٓاْ إِن
تَتَّقُواْ ٱللَّهَ يَجۡعَل لَّكُمۡ
فُرۡقَانٗا وَيُكَفِّرۡ عَنكُمۡ
سَيِّـَٔاتِكُمۡ وَيَغۡفِرۡ لَكُمۡۗ
وَٱللَّهُ ذُو ٱلۡفَضۡلِ ٱلۡعَظِيمِ ٢٩

၂၉။ အို-"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အကယ်၍ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေကြပါမူ၊ ထိုအရှင်မြတ်သည် အသင်တို့အား (အမှားနှင့်အမှန်ကို) ခွဲခြားစိတ်ဖြာသိမြင်နိုင်စေသော [၁] အရာကို ချီးမြှင့် ပေးသနားတော်မူအံ့။ ထို့ပြင် အသင်တို့၏ မကောင်းမှုဒုစရိုက်များကိုလည်း မပျောက်စေတော်မူသည့်ပြင် အသင်တို့အား အပြစ်မှလည်း လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူအံ့။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အနန္တကျေးဇူးတော်ရှင် ဖြစ်တော်မူပေသတည်း။

وَإِذۡ يَمۡكُرُ بِكَ ٱلَّذِينَ
كَفَرُواْ لِيُثۡبِتُوكَ أَوۡ يَقۡتُلُوكَ
أَوۡ يُخۡرِجُوكَۚ وَيَمۡكُرُونَ
وَيَمۡكُرُ ٱللَّهُۖ وَٱللَّهُ خَيۡرُ
ٱلۡمَٰكِرِينَ ٣٠

၃၀။ ၎င်းပြင် (အို-နဗီတမန်တော် အသင်သည် ပြန်လည်၍ သတိရပါလေ။) အကြင်အခါ၌ "ကာဖိရ်" မယုံမကြည် သွေဖည် ငြင်းပယ်သော သူတို့သည် အသင်နှင့်ပတ်သက်၍ အသင့်အား ဖမ်းဆီးချုပ်နှောင်ကြရန်သော်လည်းကောင်း၊ အသင့်အား သတ်ဖြတ်ကြရန်သော်လည်းကောင်း၊ အသင့်အား (မက္ကဟ်မြို့မှ) နှင်ထုတ်ကြရန်သော်လည်းကောင်း၊ လျို့ဝှက်စွာ ကြံစည်လျက် ရှိကြကုန်၏။

---

➤➤ သားသမီးတို့သည် စမ်းသပ်ဖွယ်ရာများဖြစ်သည်ဟု မိန့်ဆိုထားတော်မူခြင်းဖြစ်ပေသည်။ ဥစ္စာပစ္စည်း သားသမီးတို့သည် ယင်းသို့ စမ်းသပ်ဖွယ်ရာဖြစ်ပေရာ မည်သူမည်ဝါသည် ဥစ္စာပစ္စည်း သားသမီး၏အချစ်ကို အသာပေးသည်။ မည်သူမည်ဝါသည် အလ္လာဟ်အရှင်မြတ်၏အချစ်ကို အသားပေးသည်ကို သိရှိရပေမည်။ မွတ်စ်လင်မ်တို့သည် ဥစ္စာပစ္စည်း သားသမီးတို့၏ အချစ်ကို အလ္လာဟ်အရှင်မြတ်၏အချစ်ထက် အသာမပေးကြရ။ ဥစ္စာပစ္စည်း သားသမီးများ၏အကျိုးကို ကြည့်ပြန်သော် ဥစ္စာပစ္စည်း သားသမီးတို့၏အကျိုးသည် သခ်ါရဖြစ်သည်။ အနည်းငယ်မျှသာ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်အထံတော်၌ရှိသော အကျိုးဆုလာဘ်ကား ကြီးမား များပြားလှ၏။ သခ်ါရလည်း မဟုတ်ပေ။ (ထာနဝီ) အ-၄။ စစ-၇၆။

ဤမုကၡပါဌ်တော်၏ သဘောကို ကုရ်အာန်ကျမ်းမြတ် (၂၁း၃၅။ ၆၃း၉။ ၆၄း၁၄-၁၅)တွင်လည်း မိန့်ဆိုထားတော်မူသည်။

(၁) "ဖုရ်ကာန်" ဟူသောပုဒ်၏ အနက်ကို "မုဖတ်စ်စစ်ရ်" များသည် အမျိုးမျိုး ဖွင့်ဆို ရေးသားကြသည်။ အမှန်နှင့် အမှားကို ခွဲခြား သိစေသည့် တရားဓမ္မ၊ စိတ်ဓာတ်၏အလင်း၊ ရန်သူတို့အား အောင်နိုင်မှု၊ ➤➤

(ထိုစဉ်အခါဝယ်) ၎င်းတို့သည် (မိမိတို့၏ အကြံအစည်များကို) ကြံစည်လျက် ရှိကြလေသည်။ အလ္လာဟ်အရှင်မြတ်သည်လည်း (မိမိ အကြံအစည်ကို) ကြံစည်လျက် ရှိတော်မူ၏။ စင်စစ်တမူကား အလ္လာဟ်အရှင်မြတ်သည် အကောင်းဆုံးကြံစည်နိုင်တော်မူသောအရှင်မြတ်ပင်ဖြစ်တော်မူပေသတည်း။ ၁

وَإِذَا تُتْلَىٰ عَلَيْهِمْ آيَاتُنَا قَالُوا قَدْ سَمِعْنَا لَوْ نَشَاءُ لَقُلْنَا مِثْلَ هَٰذَا ۙ إِنْ هَٰذَا إِلَّا أَسَاطِيرُ الْأَوَّلِينَ ﴿٣١﴾

**၃၁။** စင်စစ်သော်ကား ၎င်းတို့ရှေ့ဝယ် ငါအရှင်မြတ်၏ကျမ်းဂန်လာ ဒေသနာတော်များကို ရွတ်ဖတ်၍ ပြခဲ့ပါလျှင်၊ ၎င်းတို့က "ငါတို့သည် အမှန်ပင် (ဤသည်တို့ကို အဖန်တလဲလဲ) ကြားခဲ့ဖူးကြချေပြီ။ ငါတို့သည် အလိုရှိလျှင် ငါတို့သည်လည်း ဤအတိုင်းပင် ဧကန်မလွဲ (စီကုံး)ပြောဆိုနိုင်ကြပေသည်။ *ဤသည်ကား ရှေးသူတော်ကောင်းတို့၏ ဒဏ္ဍာရီပုံပြင်မျှသာဖြစ်သည်" ဟု ပြောဆိုကြကုန်၏။* ၂

---

➤➤ လွတ်မြောက်မှု၊ ကူညီမှု၊ နောင်တမလွန်ဘဝတွင် ပြစ်ဒဏ်မှ ချမ်းသာခွင့်ရမှု၊ အမှန်နှင့်အမှား ဆုံးဖြတ်မှု အားလုံးတို့သည် ယင်း ပုဒ်တွင် အကျုံးဝင်လျက် ရှိပေသည်။

① မက္ကာမြို့ရှိ ကာဖိရ်အကြီးအကဲများသည် "ဒါရုန်နဒ်ဝဟ်" ၌စည်းဝေး၍ တမန်တော်မြတ်အား ဖမ်းဆီးချုပ်နှောင်ရန်၊ ပြည်နှင်ရန်၊ သတ်ဖြတ်ရန် ကြံစည်ခဲ့ကြ၏။ နောက်ဆုံးတွင် တမန်တော်မြတ်အား သတ်ဖြတ်ရန် ဆုံးဖြတ်ခဲ့ကြလေသည်။ တမန်တော်မြတ်သည် ၎င်းတို့၏အကြံအစည်ကို "ဝဟီ" ဖြင့် သိတော်မူသည့်အခါ တိတ်ဆိတ်စွာ နေရာရွှေ့ပြောင်း၍ "ဆောင်ရ်" မည်သောတောင်၏ လိုဏ်ခေါင်းတွင် ပုန်းအောင်းတော်မူခဲ့၏။ ထိုမှတဆင့် မဒီနာမြို့သို့ ကောင်းမွန်ချောမောစွာ ရောက်ရှိသွားတော်မူခဲ့လေသည်။ ဤသည့်အကြောင်းများကိုပင် ဤမုက္ခပါဌ်တော်တွင် ရည်ညွှန်း မိန့်ဆိုထားတော်မူသည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ အကျယ်ကို သိလိုပါက ဃာဇီရေး တမန်တော်မြတ် စာမျက်နှာ (၁၇၈–၁၈၅)ကို ရှုပါကုန်။

② "နသွရ် အီဗ်နအလ်ဟာရစ်ဆ်" ဆိုသူ ကာဖိရ်ခေါင်းဆောင်တဦးက "ငါတို့ အလိုရှိလျှင် ကုရ်အာန်ကျမ်းကဲ့သို့ ကျမ်းတစောင် ပြုစုရေးသားနိုင်သည်။ ကုရ်အာန်ကျမ်းတွင် ရှေးသူတော်ကောင်းတို့၏ စကားများမှအပ အခြားဘာမျှမပါရှိ" ဟု ဆိုလေ့ရှိခဲ့သည်။ ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်အရှင်မြတ်၏ မုက္ခပါဌ်တော်ဖြစ်ကြောင်းနှင့်စပ်လျဉ်း၍ မည်သူတဦးတယောက်မျှ ကုရ်အာန်ကျမ်းမြတ်ကဲ့သို့ တပုဒ်၊ တပါဒမျှ မပြုစုမရေးသား နိုင်သည့်အချက်ကိုပင် မှတ်ကျောက်အဖြစ် ကမ္ဘာ့အဝှန်းသို့ ကြေငြာထားသည်။ ကြည့်– ကုရ်အာန် (၂:၂၃–၂၄) "ကျွန်ုပ် အလိုရှိလျှင် ကုရ်အာန်ကဲ့သို့ ပြုစုရေးသားနိုင်ပါသည်" ဟု ပြောဆိုသူတဦးသည် အဘယ့်ကြောင့် အလိုမရှိသနည်း။ ဤသည် အလုပ်မဖြစ်သော အပြောသာ ဖြစ်ချေသည်။ ➤➤

وَاِذۡ قَالُوا اللّٰهُمَّ اِنۡ كَانَ هٰذَا هُوَ الۡحَـقَّ مِنۡ عِنۡدِكَ فَاَمۡطِرۡ عَلَيۡنَا حِجَارَةً مِّنَ السَّمَآءِ اَوِ ائۡتِنَا بِعَذَابٍ اَلِيۡمٍ ﴿٣٢﴾

၃၂။ တဖန် (အသင်သည် ၎င်းတို့အား သတိရစေပါလေ။) တရံရောအခါဝယ်၎င်းတို့က "အို- အလ္လာဟ် အရှင်မြတ်၊ အကယ်၍ ဤ (မုကၡပါဠိတော်)သည် အလ္လာဟ် အရှင်မြတ် အထံတော်မှ အဟုတ်အမှန် ဖြစ်ခဲ့ပါလျှင် အရှင်မြတ်သည် ကျွန်တော်မျိုးတို့ အပေါ်၌ ကျောက်ခဲများကို မိုးကောင်းကင်မှရွာသွန်းစေတော်မူပါ။ သို့တည်းမဟုတ် အလွန် ပြင်းပြနာကျင်ဖွယ်သော အခြားပြစ်ဒဏ် တစုံတရာကို ကျွန်တော်မျိုး အပေါ်၌ ကျရောက်စေတော်မူပါ" ဟု *ပြောဆို လျှောက်ထားခဲ့ကြလေသည်။* [၁]

➤➤ အလုပ်မဖြစ်ဘဲ အပြောသာရှိသောစကားသည် မြင်းသမားတယောက်ပြောဆိုသော စကားနှင့်တူသည်။ ထိုမြင်းသမားက "ကျွန်ုပ်၏မြင်းသွားလျှင် တရက်နှင့် လန်ဒန်သို့ ရောက်နိုင်သည်" ဟုပြောဆို ဝါကြွား၏။ သို့ရာတွင် ၎င်း၏မြင်းကား မသွားပေ။

(၁) ဤမုကၡပါဠိတော်တွင် မက္ကာမြို့သားမုရှ်ရိစ်က်များ၏ လွန်စွာမိုက်မဲမှု၊ စိတ်ဓာတ်ခဲယဉ်းမှု၊ မလိုမုန်းတီးမှုများကို ထုတ်ဖော် မိန့်ဆိုထားတော်မူသည်။ ၎င်းတို့က "အို- အလ္လာဟ်၊ ကျွန်တော်မျိုးတို့သည် ဤသာသနာကို ဤမျှအချိန်တိုင် ဤမျှ ပြင်းထန်စွာ သွေဖည်ငြင်းဆန်လျက်ရှိကြပါသည်။ အကယ်၍ ဤသာသနာသည် တကယ်မှန်ကန်ပါလျှင် အတိတ်ခေတ်ရှိ လူမျိုးများအပေါ်တွင် ခဲမိုး ရွာသွန်းချသကဲ့သို့ ကျွန်တော်မျိုးတို့ အပေါ်တွင်လည်း ခဲမိုးရွာသွန်းချတော်မူပါ။ သို့တည်းမဟုတ် ကျွန်တော်မျိုးတို့အား အခြားပြင်းထန်သော ပြစ်ဒဏ်တရပ်ရပ် တပ်ရိုက်၍ လုံးဝချေမှုန်းတော်မူပါ" ဟုပင် လျှောက်ထား ပန်ကြားဝံ့ခဲ့ကြလေသည်။ ဤသို့ ဆုပန်ကြားသူမှာ "အဗူဂျဟ်လ်" ဖြစ်သည်ဟု တဖ်စီရ် ကျမ်းကြီးများတွင် လာရှိပေသည်။ အဗူဂျဟ်လ်သည် ဗဒ်ရ်စစ်ပွဲ ဆင်နွှဲရန် မက္ကာမြို့မှထွက်သည့်အချိန် "ကအ်ဗဟ်"ကျောင်းတော်ရှေ့တွင် ယင်းသို့ ဆုပန်ကြားခဲ့လေသည်။ နောက်ဆုံးတွင် ဗဒ်ရ်စစ်ပွဲ၌ အဗူဂျဟ်လ်၏ ဆုပန်ကြားချက်၏ နမူနာကို မြင်လိုက်ကြရလေပြီ။ အဗူဂျဟ်လ်နှင့် တကွ မုရ်ရစ်က် အကြီးအကဲ (၆၉)ဦးတို့သည် လက်တဆုပ်မျှသော မွတ်စ်လင်မ်စစ်သည်တော်များ၏ လက်ချက်ဖြင့် ဗဒ်ရ်စစ်ပွဲတွင် မရှုမလှ အသေဆိုးနှင့်သေခဲ့ကြပြီ။ ထို့ပြင် ကာဖိရ် (၇၀)တို့သည်လည်း သုံ့ပန်းအဖြစ် ဖမ်းဆီးချုပ်နှောင်ခြင်း ခံခဲ့ကြရချေပြီ။ ဤသို့အားဖြင့် အလ္လာဟ်အရှင်မြတ်သည် မက္ကာမြို့သားကာဖိရ်၊ မုရှ်ရိစ်က်များအား ချေမှုန်းတော်မူလိုက်လေပြီ။

အလ္လာဟ်အရှင်မြတ်သည် တမန်တော် လူတ်(အလိုင်ဟစ္စလာမ်)၏ အမျိုးသားများ အပေါ်သို့ ခဲမိုး ရွာသွန်းချတော်မူကဲ့သို့ ၎င်းတို့အပေါ်တွင် ခဲမိုး ရွာသွန်းချပေးတော်မမူခဲ့ပေ။ သို့ရာတွင် ထိုအရှင်မြတ်သည် တမန်တော်မြတ်၏လက်ဖြင့် ကျောက်စရစ်တဆုပ် ပက်တော်မူခဲ့လေသည်။ ဤသည် မိုးကောင်းကင်မှ ခဲမိုး ရွာသွန်းချခြင်း၏ သာမန်နမူနာပင် ဖြစ်သည်။ ဤအကြောင်း ကုရ်အာန်ကျမ်းမြတ် (၈း၁၇)တွင် မိန့်ဆိုထားတော်မူသည်။

وَمَا كَانَ اللّٰهُ لِيُعَذِّبَهُمْ وَاَنْتَ فِيْهِمْ ۚ وَمَا كَانَ اللّٰهُ مُعَذِّبَهُمْ وَهُمْ يَسْتَغْفِرُوْنَ ﴿٣٣﴾

၃၃။ အမှန် စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့တွင် *အသင်(နဗီတမန်တော်)ရှိနေစဉ် ၎င်းတို့အားပြစ်ဒဏ်ပေးတော်မူမည်* မဟုတ်ပေ။ ၁ ထိုနည်းတူစွာ ၎င်းတို့သည် ပြစ်မှု ဒုစရိုက်တို့မှ လွတ်ငြိမ်း ချမ်းသာခွင့်ရရန် ဆုပန်လျက် ရှိနေခိုက်လည်း အလ္လာဟ်အရှင်မြတ်သည်၎င်းတို့အား ပြစ်ဒဏ်ပေးတော်မူမည် မဟုတ်ချေ။

---

(၁) ကုရ်အာန်ကျမ်းမြတ် (၈း၃၂)တွင် ပါရှိသည့်အတိုင်း မက္ကာမြို့သား မုရှ်ရစ်က်များသည် အလ္လာဟ်အရှင်မြတ်အထံတော်၌ ထူးဆန်းအံ့ဖွယ်သော သဘာဝဓမ္မနှင့်ဆန့်ကျင်သော ပြစ်ဒဏ်များကို ၎င်းတို့အား တတ်ရိုက်တော်မူရန် မိုက်မဲစွာ တောင်းဆိုခဲ့ကြ၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် ယင်းမုရှ်ရစ်က်တို့အား ဆောလျင်စွာ ပြစ်ဒဏ် တတ်ရိုက်တော်မမူခဲ့ပေ။ ယင်းသို့ ဆောလျင်စွာ ပြစ်ဒဏ်တတ်ရိုက်တော် မမူခဲ့ခြင်းမှာ

(က) မက္ကာမြို့တော်တွင် သို့မဟုတ် ဤကမ္ဘာလောကတွင် တမန်တော်မြတ် ရှိနေတော်မူခြင်း။

(ခ) မက္ကာမြို့သား မုရှ်ရစ်က်များသည် "ကအ်ဗဟ်" ကျောင်းတော်ကို "သွဝါဖ်" လှည့်ပတ်ဖူးမြော်သည့်အခါ "ဃုဖ်ရာနက၊ ဃုဖ်ရာနက" ဟုဆိုကာ အပြစ်များမှ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားခြင်းများကြောင့် ဖြစ်သည်။

(မက္ကာမြို့သားမုရှ်ရစ်က်များသည် တမန်တော်မြတ် မက္ကာမြို့တော်မှ စွန့်ခွာထွက်သွားပြီးသည့် နောက်ပိုင်းတွင်လည်းကောင်း၊ တမန်တော်မြတ် "ဝဖာတ်" ဖြစ်တော်မူပြီးသည့် နောက်ပိုင်းတွင်လည်းကောင်း၊ အပြစ်များမှ လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြားလျက် ရှိခဲ့ကြပေသည်။ ယင်းမုရှ်ရစ်က်တို့၏ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားမှုသည် ၎င်းတို့တွင် အီမာန်ယုံကြည်မှု မရှိသည့်အတွက် နောင်တမလွန်ဘဝတွင် ၎င်းတို့အား အကျိုးဖြစ်ထွန်းစေမည်မဟုတ်ပေ။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်အထံတော်၌ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားခြင်းသည် ကောင်းသော အပြုအမူတရပ် ဖြစ်သည့်အတွက် ဤပစ္စက္ခဘဝတွင်ကား ၎င်းတို့အား အကျိုးပေးပေသည်။)

ထို့ပြင်တဝ မက္ကာမြို့သားမုရှ်ရစ်က်များအား အလ္လာဟ်အရှင်မြတ် ဆောလျင်စွာ ပြစ်ဒဏ်တတ်ရိုက်တော်မမူခဲ့ခြင်း အကြောင်းများတွင် အခြားအကြောင်းတရပ် ရှိသေးသည်။ ထိုအကြောင်းကား အခြားမဟုတ်။ "ဟဒီဆ်" တမန်တော်မြတ်၏ ဩဝါဒတော်များတွင် လာရှိသည်မှာ တမန်တော်မြတ်၏ "အွန်မ္မတ်" တွင် အပါအဝင် ဖြစ်ခြင်းသည် "အွန်မ္မတိ ဒအ်ဝါတ်" ပင် ဖြစ်စေကာမူ လွတ်ငြိမ်းချမ်းသာခွင့် မပန်ကြားလင့်ကစား သဘာဝနှင့်ဆန့်ကျင်သော ပြစ်ဒဏ်တတ်ရိုက်တော်မမူခြင်း၏ အကြောင်းတရပ်ပင် ဖြစ်ပေသည်။

ဖော်ပြပါ အကြောင်းများသည် သဘာဝနှင့်ဆန့်ကျင်သော ပြစ်ဒဏ်တတ်ရိုက်တော်မမူခြင်း၏ အကြောင်းများပင်ဖြစ်သည်။ သို့ရာတွင် တခါတရံ အလ္လာဟ်အရှင်မြတ်သည် ထိုထိုသော အကြောင်းများ ရှိပါလျက်နှင့်ပင် အကြောင်းထူးရှိက သဘာဝအလျောက် ဖြစ်ခဲ့သော အပြစ်ဒဏ်များကို တတ်ရိုက်တော်မူမည် ဖြစ်သည်။ ဥပမာ-အလ္လာဟ်အရှင်မြတ်သည် ကိယာမတ် နီးလာသည့်အချိန်တွင် မြေမျိုစေတော်မူခြင်း၊ ရုပ်ဆင်းသဏ္ဍာန်ကို လုံးဝဖျက်ဆီးပစ်တော်မူခြင်း . . . စသည့် ပြစ်ဒဏ်များကို တတ်ရိုက်တော်မူမည့်အကြောင်း ဟဒီစ် ဩဝါဒတော်များတွင် လာရှိပေသည်။ ထာနဝီ။

وَمَا لَهُمْ أَلَّا يُعَذِّبَهُمُ اللَّهُ وَهُمْ يَصُدُّونَ عَنِ الْمَسْجِدِ الْحَرَامِ وَمَا كَانُوا أَوْلِيَاءَهُ ۚ إِنْ أَوْلِيَاؤُهُ إِلَّا الْمُتَّقُونَ وَلَٰكِنَّ أَكْثَرَهُمْ لَا يَعْلَمُونَ ﴿٣٤﴾

၃၄။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား(လုံး၀)အပြစ်မပေးတော်မူရန်မည်သည့်အကြောင်း ရှိချေသနည်း။ အမှန်စင်စစ်သော်ကား ၎င်းတို့သည် မတ်စ်ဂျစ်ဒ်ဟရာမ် ဗလီဝတ်ကျောင်းတော် (တွင် ဝတ်ပြုခြင်းတို့)မှ တားဆီးကြလေသည်။ စင်စစ်မူကား ၎င်းတို့သည် ထိုဗလီကျောင်းတော်ကိုစောင့်ရှောက်သောဂေါပကလူကြီးများလည်း မဟုတ်ကြချေ။

"မွတ္တကီ" သူတော်စင်များသည်သာလျှင် ထိုဗလီကျောင်းတော်ကို အုပ်ထိန်းသူများ ဖြစ်နိုင်ကြကုန်၏။ သို့ရာတွင် ၎င်းတို့အနက် အများဆုံးသောသူတို့ကား (ဤမျှပင်) မသိနားမလည်ကြချေ။ ၁

---

(၁) မက္ကာမြို့သားမုရှိရစ်က်တို့အား ကြီးမားသော သဘာ၀နှင့်ဆန့်ကျင်သော ပြစ်ဒဏ်များကို ဆောလျင်စွာ တတ်ရိုက်တော်မမူသေးသည့်အကြောင်း အထက်တွင် ရေးသားဖော်ပြခဲ့ပေပြီ။ အမှန်မှာ ၎င်းတို့၏ ဆိုးသွမ်းမှု၊ မိုက်မဲမှု၊ ကျူးလွန် စော်ကားမှုများသည် ကြီးမားသောပြစ်ဒဏ်တော်များကို လက်ယပ်ဖိတ်ခေါ်လျက် ရှိခဲ့ချေသည်။

မက္ကာမြို့သားမုရှိရစ်က်များသည် မွတ်စ်လင်မ်တို့အား ညဏ်နီညဏ်နက်များဖြင့် "မတ်စ်ဂျစ်ဒ်ဟရာမ်" ကျောင်းတော်သို့ လာရောက်ဝတ်ပြုခြင်းမှ ပိတ်ပင် တားဆီးခဲ့ကြသည်။ ယင်းသို့ ပိတ်ပင်တားဆီးခဲ့ကြရုံမျှမက မွတ်စ်လင်မ်တို့အား မက္ကာမြို့တော်မှပင် လုံး၀နှင်ထုတ်ရန် ကြိုးစားခဲ့ကြလေသည်။ နှင်ထုတ်ခဲ့ကြသည်။ ပြီးနောက် မိမိတို့၏ ကျူးလွန်မှုများကို ဖုံးဖိကာကွယ်နိုင်ရန်အတွက် "ငါတို့သည် တမန်တော်အီဗ်ရာဟီမ်၏ အဆက်အနွယ်များ ဖြစ်ကြသည်။ အဘယ်မျိုးနွယ်မှ ဖြစ်ကြသည်။ ကျောင်းတော်၏ ဂေါပကဖြစ်မှုသည် ငါတို့၏အမွေဖြစ်သည်။ ငါတို့သည် ကျောင်းတော်၏ဂေါပကများဖြစ်ကြရာ ငါတို့သည် မိမိတို့၏အလိုရှိသူအား ကျောင်းတော်သို့ လာခွင့်ပြုသည်။ အလိုမရှိသူအား လာခွင့်မပြု။ ဤသည် ငါတို့၏အခွင့်အာဏာပင် ဖြစ်သည်" ဟု မဟုတ်မမှန် လုပ်ကြံ၍ အကြောင်းပြကြပြန်သည်။

မက္ကာမြို့သား မုရှိရစ်က်များသည် ကျောင်းတော်၏ဂေါပကများလည်း မဟုတ်ပေ။ အကယ်တန္တု ၎င်းတို့သည် ဂေါပကများ ဖြစ်သည့်တိုင်အောင် ၎င်းတို့၌လည်း ကျောင်းတော်သို့ လာရောက်ဝတ်ပြုသူများအား ပိတ်ပင် တားဆီးပိုင်ခွင့်ကား မလျှင်းမရှိပေ။

ဤမုက္ခပါဌ်တော်တွင် "မုတာ၀လ္လီ" ဂေါပကများသည် တမန်တော်အစ္စဗရာဟီမ်(အလိုင်ဟစ္စလာမ်) အဆက်အနွယ်များအနက် ("တောင်ဟီဒ်" ကို လက်ခံနာယူကျင့်သုံးသော) မွတ္တကီ သူတော်စင်များသာလျှင် ဖြစ်နိုင်ကြောင်း၊ ("တောင်ဟီဒ်" ကို ဆန့်ကျင်နေသော) မုရှိရစ်က်များ လူရှုပ်လူပွေများသည် ဂေါပကများ မဖြစ်နိုင်ကြောင်း၊ အတည့်အလင်း မိန့်ဆိုထားတော်မူသည်။

وَمَا كَانَ صَلَاتُهُمْ عِنْدَ الْبَيْتِ إِلَّا مُكَاءً وَتَصْدِيَةً ۚ فَذُوقُوا الْعَذَابَ بِمَا كُنْتُمْ تَكْفُرُونَ ﴿٣٥﴾

၃၅။ စင်စစ်သော်ကား (သန့်စင်သော) အိမ်တော် (ဝါ) ကအ်ဗဟ်ကျောင်းတော်၏အပေါ်တွင် ၎င်းတို့၏ "ဆွလာတ်" ဝတ်ပြုမှုသည် လေချွန်ခြင်းနှင့် လက်ခုပ် *တီးခြင်းမျှသာ ဖြစ်ချေသည်။* [၁] သို့ဖြစ်ပေရာ အသင်တို့သည် မိမိတို့၏ မယုံမကြည် သွေဖည်ငြင်းပယ်မှုကြောင့် ပြစ်ဒဏ်(၏ ရသာကို မြိန်ရှက်စွာ) *မြည်းစမ်းကြလေကုန်။* [၂]

(၁) ကအ်ဗဟ်ကျောင်းတော်တွင် လာရောက်ပြီး အမုန်တကယ် ဆွလာတ်ဝတ်ပြုကြသော မွတ်စလင်မ်များအား မက္ကာမြို့သားမုရှ်ရစ်က်များသည် ကျောင်းတော်သို့ မလာရောက်ရန် ပိတ်ပင်တားဆီးခဲ့ကြလေသည်။

ယင်း မုရှ်ရစ်က်များ၏ ဝတ်ပြုခြင်းမှာကား– ကအ်ဗဟ် ကျောင်းတော်ကို ဝတ်လစ်စလစ် အချည်းနှည်း လှည့်ပတ် ဖူးမြော်ခြင်း၊ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရမည့်နေရာတွင် လေချွန်ခြင်း၊ လက်ခုပ်တီးခြင်း၊ ခေါင်းလောင်းတီးခြင်းများသာ ဖြစ်သည်။ ဆိုလိုသည်ကား– မုရှ်ရစ်က်များသည် မိမိတို့ကိုယ်တိုင်လည်း ဝတ်ပြုကြသည်မဟုတ်။ သူတပါးတို့အားလည်း ဝတ်ပြုခွင့်ပြုကြသည်မဟုတ်။ အထက်တွင် ရေးသားဖော်ပြပါအတိုင်း အဓိပ္ပာယ်မရှိသော၊ အရှက်အကြောက် မရှိအသေ ကင်းမဲ့သော၊ အပြုအမူများကိုပင် ဝတ်ပြုခြင်းဟူ၍ မှတ်ယူထားခဲ့ကြလေသည်။

အချို့ပညာရှင်များ၏ ယူဆချက်အရ ယင်းကဲ့သို့ မက္ကာမြို့သား မုရှ်ရစ်က်များ၏ လက်ခုပ်တီးခြင်း၊ လေချွန်ခြင်း၊ ခေါင်းလောင်းတီးခြင်းများသည် မွတ်စ်လင်မ်တို့အား အနှောင့်အယှက်ပြုရန် သဘောဖြင့်သော်လည်းကောင်း၊ သို့မဟုတ် ပျက်ချော်ပြောင်လှောင်ရန် သဘောဖြင့်သော်လည်းကောင်း၊ ပြုလုပ်ခြင်းသာ ဖြစ်သည်ဟူ၏။

(၂) "အသင်တို့သည် မိမိတို့၏ သွေဖည်ငြင်းဆန်မှုများကြောင့် ပြစ်ဒဏ်ကို မြစမ်းကြကုန်" ဟု မိန့်ဆိုတော်မူသည့်အတိုင်း မက္ကာမြို့သားမုရှ်ရစ်က်များသည် သဘာဝနှင့်မဆန့်ကျင်သော ပြစ်ဒဏ်များကို မြောက်မြားစွာသော စစ်ပွဲများတွင် ခံခဲ့ကြရလေပြီ။

မက္ကာမြို့သားမုရှ်ရစ်က်တို့၏ သွေဖည်ငြင်းပယ်မှုများကား ကုရ်အာန်ကျမ်းမြတ် (၈း၃၁)တွင် ပါရှိသည့်အတိုင်း "ကျွန်ုပ်တို့လည်း အလိုရှိလျှင် ဤသို့သောကုရ်အာန်ကို ပြုစုရေးသားနိုင်သည်" ဟု ပြောဆိုခြင်း၊ ကုရ်အာန် (၈း၃၂)တွင်ပါရှိသည့်အတိုင်း "ဤကုရ်အာန်သည် အရှင်မြတ်ထံတော်မှ မှန်ကန်ပါလျှင် ကျွန်တော်မျိုးတို့အပေါ်သို့ ခဲမိုး ရွာသွန်းချပါဟု ဆိုခြင်း။ ကုရ်အာန်ကျမ်းမြတ် (၈း၃၄)တွင်ပါရှိသည့်အတိုင်း "မွတ်စ်လင်မ်တို့အား ကအ်ဗဟ်ကျောင်းတော်မှတားဆီးခြင်း၊ ကုရ်အာန်ကျမ်းမြတ် (၈း၃၅)တွင်ပါရှိသည့်အတိုင်း ကအ်ဗဟ် ကျောင်းတော်တွင် လက်ခုပ်တီးခြင်း၊ လေချွန်ခြင်းများပင်ဖြစ်ချေသည်။ ကြည့်–ထာနဝီ။ အ–၄၊ စ–၇၈၊

إِنَّ الَّذِينَ كَفَرُوا يُنفِقُونَ أَمْوَالَهُمْ لِيَصُدُّوا عَن سَبِيلِ اللَّهِ ۚ فَسَيُنفِقُونَهَا ثُمَّ تَكُونُ عَلَيْهِمْ حَسْرَةً ثُمَّ يُغْلَبُونَ ۗ وَالَّذِينَ كَفَرُوا إِلَىٰ جَهَنَّمَ يُحْشَرُونَ ٣٦

၃၆။ ဧကန်စင်စစ် ကာဖိရ် မယုံမကြည် သွေဖည်ငြင်းပယ်သော သူတို့သည် (လူတို့အား) အလ္လာဟ် အရှင်မြတ်၏ လမ်းတော်မှ တားဆီးရန် မိမိတို့၏ ဥစ္စာပစ္စည်းများကို သုံးစွဲကြလေသည်။

(ယခုသော်) ၎င်းတို့သည် ထိုဥစ္စာပစ္စည်းများကို သုံးစွဲလျက်ပင် ရှိနေကြလိမ့်မည်။ သို့ရာတွင် နောက်ဆုံးတွင် ထိုပစ္စည်းများပင် ၎င်းတို့၌ ဝမ်းနည်းဖွယ်ရာ ဖြစ်သွားချေမည်။ ထို့နောက် ၎င်းတို့သည် နှိမ်နင်းခြင်းကို (လည်း) ခံကြရပေ(ဦး)မည်။ ထိုမှတပါး မယုံမကြည် သွေဖည်ငြင်းပယ်သော သူတို့သည် *ဂျဟန္နမ်ငရဲဘုံသို့ စုရုံးစေခြင်းကို ခံကြရမည် ဖြစ်သတည်း။*[၁]

لِيَمِيزَ اللَّهُ الْخَبِيثَ مِنَ الطَّيِّبِ وَيَجْعَلَ الْخَبِيثَ بَعْضَهُ عَلَىٰ بَعْضٍ فَيَرْكُمَهُ جَمِيعًا فَيَجْعَلَهُ فِي جَهَنَّمَ ۚ أُولَٰئِكَ هُمُ الْخَاسِرُونَ ٣٧

၃၇။ (ထိုသို့ ပြုတော်မူခြင်းကား) အလ္လာဟ်အရှင်မြတ်သည်သူယုတ်လူညစ်တို့အား သူတော်စင် သန့်စင်သောသူတို့နှင့် ခွဲခြားတော်မူအံ့သောငှာလည်းကောင်း၊ သူယုတ်လူညစ်တို့အားတဦးအပေါ်တဦးထပ်ဆင့်တော်မူပြီးနောက် အားလုံးကိုစုပုံပြီးလျှင် "ဂျဟန္နမ်" ငရဲဘုံတွင်းသို့ ပို့တော်မူအံ့သောငှာလည်းကောင်း၊ (ပြုတော်မူခြင်းပင်) ဖြစ်ချေသည်။ ဤသို့သော သူများသည်ပင် ဆုံးရှုံးနစ်နာသူများ ဖြစ်ကြကုန်သတည်း။

---

(၁) ကာဖိရ်များသည် သူတပါးတို့အား အလ္လာဟ်အရှင်မြတ်၏ လမ်းတော်မှ ပိတ်ပင်တားဆီးရန်အတွက် မိမိတို့၏ ဥစ္စာပစ္စည်းများကို သုံးဖြုန်းကြသည်။ သို့ရာတွင် နောက်ဆုံး၌ ကာဖိရ်များသည် မိမိတို့၏ လိုလားချက် မပြည့်ဝသည့်အခါ ယင်းသို့ မိမိတို့၏ ဥစ္စာပစ္စည်းများကို သုံးဖြုန်းမိကြသည့်အတွက် ဝမ်းနည်းကြမည်။ ထို့ပြင်တဝ သူတပါးတို့၏ လွှမ်းမိုးခြင်းကိုလည်း ခံကြရမည်။ ဤကား ဤပစ္စက္ခဘဝတွင် ခံစားရမည့် ပြစ်ဒဏ်များသာ ဖြစ်သေးသည်။ ၎င်းတို့သည် နောင်တမလွန်ဘဝတွင် ဂျဟန္နမ်ငရဲဘုံသို့ လားကြရဦးမည်။ ဤသို့အားဖြင့် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော် များကို သွေဖည်ငြင်းဆန် မနာခံသော ကာဖိရ်များသည် နှစ်ဘဝလုံးတွင် ဆုံးရှုံးကြရပေမည်။ ဤကား မည်သူမပြု မိမိမှုပင်တည်း။

قُلْ لِّلَّذِيْنَ كَفَرُوْٓا اِنْ يَّنْتَهُوْا يُغْفَرْ لَهُمْ مَّا قَدْ سَلَفَ ۚ وَاِنْ يَّعُوْدُوْا فَقَدْ مَضَتْ سُنَّتُ الْاَوَّلِيْنَ ﴿٣٨﴾

၃၈။ (အို-နဗီတမန်တော်)အသင်သည် မယုံမကြည် သွေဖည်ငြင်းပယ်သောလူတို့အား (ဤသို့)ပြောကြားပါလေ။ ၎င်းတို့သည် အကယ်၍သာ (မယုံမကြည် သွေဖည်ငြင်းပယ်ခြင်းမှ) ရပ်စဲကြပါမူ၊ လွန်လေပြီးသော ပြစ်မှုဒုစရိုက်တို့သည် ၎င်းတို့အဖို့ ခွင့်လွှတ်ပြီး *ဖြစ်ချေမည်။* [၁]

သို့ရာတွင် အကယ်၍သာ၎င်းတို့သည် ထပ်မံ၍ ပြုလုပ်ကြပါလျှင်၊ ရှေးသူဟောင်းတို့နှင့် ပတ်သက်သော (ငါအရှင်မြတ်၏) စည်းကမ်းဥပဒေသည်လည်း လွန်ခဲ့ပြီး ဖြစ်ချေသတည်း။ [၂]

وَقَاتِلُوْهُمْ حَتّٰى لَا تَكُوْنَ فِتْنَةٌ وَّيَكُوْنَ الدِّيْنُ كُلُّهٗ لِلّٰهِ ۚ فَاِنِ انْتَهَوْا

၃၉။ ၎င်းပြင် (အို-သက်ဝင်ယုံကြည်သူ အပေါင်းတို့) အသင်တို့သည် ယင်းသူတို့အား (သာသနာရေးနှင့်ပတ်သက်၍) နှိပ်စက် ညှဉ်းပန်းမှုသည် ပပျောက်ကာ အလ္လာဟ်အရှင်မြတ်၏ စီရင် ဆုံးဖြတ်ချက်သည် လုံးဝတည်တံ့၍ သွားသည်အထိ တိုက်ခိုက်ကြလေကုန်။

---

(၁) အကယ်၍ ကာဖိရ်များသည် ကုဖ်ရ်သွေဖည်ငြင်းဆန် မနာခံမှု၊ တမန်တော်မြတ်အား ရန်ငြိုးထားမှုများကို ရပ်တန့်၍ အစ္စလာမ်သာသနာဘောင်အတွင်းသို့ သက်ဝင်လာခဲ့ကြပါလျှင် ၎င်းတို့သည် ယခင် မိုက်မှားခဲ့ကြသော အပြစ်အားလုံးကို ချမ်းသာခွင့်ရရှိကြမည်ဖြစ်သည်။

ဤမုကဒ္ဒပါဠ်တော်၏ အဖွင့်နှင့် စပ်လျဉ်း၍ တမန်တော်မြတ်၏ "ဟဒီဆ်" ဩဝါဒတော်များတွင် အောက်ပါအတိုင်း လာရှိပေသည်။

"အစ္စလာမ်သည် မိမိအလျင်ဖြစ်ခဲ့သော ပြစ်မှုများကို ပလပ်စေသည်။"

အီမာမ် "အဗူဟနီဖတ်" သခင်က ဖွင့်ဆိုသည်မှာ အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ ထိန်းသိမ်းစောင့်ရှောက်ရမည့် တာဝန်များသည် ပလပ်ခွင့်ရရှိမည်ဖြစ်သည်။ လူသားများနှင့် ပတ်သက်၍ ထိန်းသိမ်း စောင့်ရှောက်ရမည့် တာဝန်များမှာမူ ပလပ်ခွင့်ရှိမည် မဟုတ်ပေ။

အထက်ပါအဆိုနှင့်စပ်လျဉ်း၍ အီဗ်နုရ် အရဗီသခင်က "ဤသည် ကျွန်ုပ်တို့၏ အာလင်မ် ပညာရှင်များ၏အဆိုပင် ဖြစ်သည်ဟု ဆိုခဲ့လေသည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် မိမိ၏အခွင့်အရေးများနှင့် စပ်လျဉ်း၍ ကြောင့်ကြရတော်မူသောအရှင် မဟုတ်ပေ။ လူသားတို့မူကား မိမိတို့၏ အခွင့်အရေးများနှင့် စပ်လျဉ်း၍ ကြောင့်ကြရပေသည်။

فَإِنَّ اللَّهَ بِمَا يَعْمَلُونَ بَصِيرٌ ﴿٣٩﴾

သို့ရာတွင် အကယ်၍ ၎င်းတို့သည် (စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းမှ) ရပ်စဲခဲ့ကြပါလျှင်၊ [၁] ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ပြုမူသမျှတို့ကို ခွဲခြား သိမြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။ [၂]

(တနည်း)

ထို့ပြင်တဝ အသင်တို့သည် သာသနာရေးညှဉ်းပန်းမှု လုံးဝပပျောက်၍ သာသနာတော်သည် အလ္လာဟ်အရှင်မြတ်အဖို့သာ ဖြစ်သွားသည့်တိုင်အောင် ((ဝါ) အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို သာလျှင် လိုက်နာကြသည့်တိုင်အောင်) ထိုသူတို့နှင့် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ကြကုန်လော့။

---

(၂) နဗီတမန်တော်များအား စုံရုံးတိုက်ခိုက်သူများ အပေါ်တွင် အလ္လာဟ်အရှင်မြတ်သည် မုအ်မင်န်တို့အား ကူညီယိုင်းပင်းတော်မူ၍ ယင်းသို့ တိုက်ခိုက်သူများအား သေးသိမ်စေတော်မူလေ့ရှိခဲ့သည်။ ဖျက်ဆီးတော်မူလေ့ရှိခဲ့သည်။ ဤသည်အလ္လာဟ်အရှင်မြတ် "စွန္နတ်" တော်ပင်တည်း။ (ရူဟုလ်မအာနီ)

(၁) အကယ်၍ ထိုသူများ ရပ်တန့်ကြလျှင်" (ဝါ) အကယ်၍ ထိုသူများသည် "ကုဖ်ရ်" သွေဖည်ငြင်းဆန်မနာခံခြင်းမှ ရပ်တန့်ကြလျှင် ထို့ပြင် အစ္စလာမ် ဘောင်အတွင်းသို့ ဝင်လာကြလျှင်။ (မဒါရစ်က်၊

အကယ်၍ ထိုသူများသည် "ကုဖ်ရ်"၊ "ရှရစ်က်" မှ ရပ်တန့်ကြလျှင် ထို့ပြင် ဝန်ချတောင်းပန်ကြလျှင်။ (အီဗ်နအဗါစ်)

အကယ်၍ထိုသူများသည် အသင်တို့နှင့် ပြိုင်ဆိုင်တိုက်ခိုက်ခြင်းမှ လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အား သွေဖည်ငြင်းဆန် မနာခံခြင်းမှလည်းကောင်း ရပ်တန့်ကြလျှင်။ (အီဗ်နဂျရီရ်)

အကယ်၍ ထိုသူများသည် "ရှရ်စ်က်" ပြုခြင်းမှလည်းကောင်း၊ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းမှ လည်းကောင်း၊ ရပ်တန့်ကြလျှင်။ (မဒါရစ်က်)

(၂) အလ္လာဟ်အရှင်မြတ်သည် ထိုသူများ၏ အပြုအမူများကို ခွဲခြားသိမြင်တော်မူသော အရှင်ဖြစ်တော်မူ၏။ (ဝါ) ထိုအရှင်မြတ်သည် ထိုသူများ၏ ဝန်ချတောင်းပန်ခြင်းနှင့် အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ခြင်းများအတွက် ကုသိုလ် အကျိုးပေးတော်မူမည်ဖြစ်သည်။ အချို့ပညာရှင်များက ဤမုကွ်ပါဌ်တော်တွင်ပါရှိသော "ယအ်မလူန" ဟူသောပုဒ်ကို ဤမုကွ်ပါဌ်တော်၌ (تَعْمَلُونَ) ဟူ၍ ရွတ်ဖတ်ကြသည်။ ယင်းသို့ ရွတ်ဖတ်သည့်အခါ အနက်အဓိပ္ပါယ်မှာ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ အသင်(မွတ်စ်လင်မ်)တို့ "ဂျီဟာဒ်" ➤➤

وَإِن تَوَلَّوْا فَاعْلَمُوا أَنَّ اللَّهَ مَوْلَاكُمْ نِعْمَ الْمَوْلَىٰ وَنِعْمَ النَّصِيرُ ﴿٤٠﴾

၄၀။ တဖန် အကယ်၍ ၎င်းတို့သည် လွှဲဖယ်၍ သွားခဲ့ကြလျှင် ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား (ယိုင်းပင်း ကူညီတော်မူမည့်) မိတ်သဟာယ၊ အကောင်းဆုံးသောကူညီတော်မူမည့် အရှင်မြတ်ပင် ဖြစ်တော်မူကြောင်း အသင်တို့သည် (ကောင်းစွာ) သတိထားနှင့်ကြကုန်။ ^၁

➤➤ ပြုကြသည်ကို လည်းကောင်း၊ ထိုအရှင်မြတ်၏ သာသနာတော်ဘက်သို့ ဖိတ်ခေါ်ကြသည်ကိုလည်းကောင်း၊ ကုဖ်ရ်၏အမှောင်မှ အစ္စလာမ်၏လင်းရောင်ခြည်ဘက်သို့ ထုတ်ဆောင်ကြသည်ကိုလည်းကောင်း၊ ထိုအရှင်မြတ်သည် ခွဲခြားသိမြင်တော်မူသည်။ (ဝါ) ယင်းသို့ပြုမူကြသည့်အတွက် အကောင်းဆုံးသော ကုသိုလ်အကျိုးများကို ပေးသနားတော်မူမည် ဖြစ်သည်ဟူ၏။

(၁) "အကယ်၍ထိုသူများ (ကာဖိရ်များ) လွှဲဖယ်သွားကြလျှင်" (ဝါ) ထိုသူများသည် အသင်တို့၏ သွန်သင်ဆုံးမ ဩဝါဒကို သွေဖယ်ကြလျှင်၊ ၎င်းတို့သည်ကုဖ်ရ် သွေဖည်ငြင်းပယ်မှု ၊ နိပ်စက်ညှင်းပန်းမှု၊ အသင်တို့အား တိုက်ခိုက်မှုများမှ မရပ်တန့်ကြလျှင် သို့ဖြစ်လျှင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့၏ "မောင်လာ ဖြစ်တော်မူသည်ကို သိထားကြကုန်" (ဝါ) အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား ကူညီတော်မူမည်၊ အသင်တို့၏ အရေးကိစ္စအဝဝကို ပြီးဆုံးအောင် ဆောင်ကြဉ်းပေးတော်မူမည်။ အသင်တို့သည် ထိုကာဖိရ်များကို မမှုကြကုန်လင့်။ မကြောက်ကြကုန်လင့် အဘယ်ကြောင့်ဆိုသော် ထိုအရှင်မြတ်သည် အကောင်းဆုံး မိတ်သဟာယလည်း ဖြစ်တော်မူသည်။ အကောင်းဆုံး ကူညီတော်မူမည့် အရှင်လည်း ဖြစ်တော်မူသည်။ ထိုအရှင်မြတ်၏ မိတ်သဟာယသည် မပျက်စီးပေ။ ထိုအရှင်မြတ်၏ ကူညီစောင့်ရှောက်တော်မူခြင်းကို ခံရသောသူသည် ရှုံးနိမ့်သည်လည်း မရှိပေ။ (အလ်မနာရ်)

وَاعْلَمُوٓا اَنَّمَا غَنِمْتُمْ
مِّنْ شَيْءٍ فَاَنَّ لِلّٰهِ
خُمُسَهٗ وَلِلرَّسُوْلِ
وَلِذِي الْقُرْبٰى وَالْيَتٰمٰى
وَالْمَسٰكِيْنِ وَابْنِ
السَّبِيْلِ اِنْ كُنْتُمْ اٰمَنْتُمْ
بِاللّٰهِ وَمَآ اَنْزَلْنَا عَلٰى عَبْدِنَا
يَوْمَ الْفُرْقَانِ يَوْمَ الْتَقَى
الْجَمْعٰنِ وَاللّٰهُ عَلٰى كُلِّ
شَيْءٍ قَدِيْرٌ ﴿٤١﴾

၄၁။ ၎င်းပြင် (အို–သက်ဝင်ယုံကြည်သူအပေါင်းတို့) အကယ်၍ အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကို လည်းကောင်း၊ ငါအရှင်မြတ်သည် မိမိ၏ကျွန်တော် (မုဟမ္မဒ်)၏အပေါ်သို့ (သက်ဝင်ယုံကြည်သူတို့နှင့် မယုံကြည် သွေဖည် ငြင်းပယ်သောသူတို့အား) ခွဲခြား သိသာစေသောနေ့တွင်(ဝါ)အုပ်စုတစုနှင့်တစု ရင်ဆိုင် တွေ့ကြုံခဲ့ကြသောနေ့တွင် *ချပေးသနားတော်မူခဲ့သည့် (သက်သေသာဓကများ)ကိုလည်းကောင်း၊* [၁] ယုံကြည် ကြပါလျှင် အသင်တို့သည် (စစ်မက်ပြိုင်ဆိုင် တိုက် ခိုက်ရာတွင်) *တစုံတရာ လက်ရပစ္စည်းများကို ရရှိ ခဲ့ကြပါမူ၊* [၂] *ထိုပစ္စည်းများအနက် ငါးပုံတပုံကို* [၃] ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည်လည်းကောင်း၊ ရစူလ်တမန်တော်မြတ်သည် လည်းကောင်း၊ (ရစူလ် တမန်တော်မြတ်၏) ဆွေရင်းသားရင်းတို့သည်လည်း ကောင်း၊ ဘမဲ့ ကလေးသူငယ်တို့သည်လည်းကောင်း၊ သူဆင်းရဲတို့သည်လည်းကောင်း၊ ခရီးသည်တို့သည် လည်းကောင်း၊ ပိုင်ဆိုင်ကြသည်ကို (ကောင်းစွာ)သိရှိ ထားကြလေကုန်။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ် သည် အလုံးစုံတို့ကို စွမ်းဆောင် နိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) "ငါအရှင်မြတ်သည် ငါ၏အစေတော်အပေါ်သို့ ချပေးသနားတော်မူသောအရာ" ဟူသည် တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အပေါ်သို့ ထိုနေ့ရက်တွင် (ဝါ) 'ဗဒရ်စစ်ပွဲနေ့တွင် ချပေးသနားတော် မူသော သက်သေလက္ခဏာများ၊ စေလွှတ်ပေးတော်မူသော ကောင်းကင်တမန်များနှင့် ချီးမြှင့်တော်မူသော အောင်နိုင်မှုကို ဆိုလိုသည်။ ကဗီရ်။

(၂) ဤကဏ္ဍ၏အစတွင် "ဃနီမတ်" လက်ရပစ္စည်းများနှင့် ယင်းပစ္စည်းများကို ခွဲဝေခြင်းအကြောင်း အနည်းငယ်ပါရှိခဲ့၏။ ယခု ဤအာယတ်တော်တွင် မည်သူမည်ဝါတို့အား မည်သို့မည်ပုံ ခွဲဝေပေးရမည့်အကြောင်း အသေးစိတ် မိန့်ဆိုထားတော်မူသည်။

"ဃနီမတ်" ၏အဘိဓာန်အနက်မှာ – လူသားများ ကြိုးပမ်းအားထုတ်၍ ရှာဖွေဆည်းပူးရရှိသော အရာဟူ၍ဖြစ်သည်။ (ကုရ်တုဗီ) ➤➤

➤➤ သို့ရာတွင် 'ဖုကဟာ' ခမ္မသတ်ရှင်များ၏ အသုံးအနှုန်းတွင် 'ဃနီမတ်'ဟူသည် စစ်မြေပြင်တွင် ကာဖိရ်များလက်မှ လက်နက်ဖြင့် သိမ်းပိုက်ရရှိသော လက်ရပစ္စည်းကိုဆိုပေသည်။

(၃) လက်ရပစ္စည်းအားလုံးကို ၅ပုံ ပုံရမည်။ ထိုငါးပုံအနက် လေးပုံကို 'ဃာဇီ' ခေါ် မုစ်လင် စစ်သည်တော်များအား ခွဲဝေပေးရသည်။ ကျန် ၅-ပုံ ၁-ပုံသည် အလ္လာဟ်အရှင်မြတ်အဖို့ဖြစ်သည်။ (ဝါ) ယခုခေတ် အသုံးအနှုန်းအရ ဤ ၅-ပုံ ၁-ပုံသည် (Islamic State) အစ္စလာမ်အစိုးရကပိုင်ဆိုင်၍ အစ္စလာမ်အစိုးရ၏ ဘဏ္ဍာတော် တိုက်၌ပင် ထားရှိရသည်။

လက်ရပစ္စည်းများ ခွဲဝေရာဌာနများတွင် အလ္လာဟ်အရှင်မြတ်၏နာမတော် ထည့်သွင်း ဖော်ပြ ထားတော်မူခြင်းမှာ "ဗရကတ်" မင်္ဂလာအလို့ငှါသာ ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ကမ္ဘာအဝန်းရှိ အရာအားလုံးတို့သည် ထိုအရှင်မြတ်ပိုင်ဆိုင်တော်မူသော အရာများသာ ဖြစ်ချေသည်။

အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်၏ဝေစုများသည် အမှန်စင်စစ် အသီးသီး အခြားခြား ဖြစ်သော ဝေစုနှစ်ခုမဟုတ်၊ တစုဖြစ်သည်။ တမန်တော်မြတ်သည် ထိုဝေစုကို မိမိ သက်တော်ထင်ရှားရှိနေခဲ့စဉ် ရရှိတော်မူခဲ့လေသည်။ အလ္လာဟ်အရှင်မြတ်၏ "နာအစ်ဗ်" "ခလီဖဟ်" ကိုယ်စားလှယ်တော်အား ဆက်သခြင်း သည် အလ္လာဟ်အရှင်မြတ်အား ဆက်သရာပင် မည်သည်။

**ငါးပုံတပုံကို ခွဲဝေပုံ**

(က) တိုင်းပြည်ကို စီမံအုပ်ချုပ်လျက်ရှိသော စစ်သေနာပတိချုပ်လည်း ဖြစ်တော်မူသော "ရိစာလတ်" တမန်တော်၏တာဝန်ကိုလည်း ထမ်းဆောင်ရတော်မူသော တမန်တော်မြတ်သည်ပင် အစ္စလာမ်အစိုးရပိုင် လက်ရပစ္စည်းများအနက် ငါးပုံတပုံ၏ ငါးပုံတပုံ (ဝါ) နှစ်ဆယ့်ငါးပုံတပုံကိုသာလျှင် ရရှိပိုင်သည်။ ဤသည် လက်ရပစ္စည်း ငါးပုံတပုံ၏ခွဲဝေပေးရာ ပထမ ဌာနပင်တည်း။ ဤဝေစုဝေပုံသည်လည်း တမန်တော်မြတ် "ဝဖာတ်" ဖြစ်တော်မူပြီးသည့် နောက်ပိုင်းတွင် ရပ်စဲသွားခဲ့လေသည်။

**ပြဿနာ**

"ရှာဖိအီ" များ၏ယူဆချက်အရ တမန်တော်မြတ်၏ဝေစုဝေပုံကို တမန်တော်မြတ် ဝဖာတ် ဖြစ်ပြီးသည့် နောက် တမန်တော်မြတ်၏ "ခလီဖဟ်" ကိုယ်စားလှယ်တော်များသည် ရရှိကြမည်ဟု ဆိုကြသည်။ "ဟနဖီ" များ၏ယူဆချက်မှာကား ဤသို့မဟုတ်ပေ။ ဟနဖီများ၏အကြောင်းပြချက်ကား တမန်တော်မြတ်ရရှိခဲ့သော ဝေစုဝေပုံသည် တမန်တော်မြတ်၏ ရိစာလတ် 'တမန်တော်ဖြစ်မှုဂုဏ်' ကို အကြောင်းပြု၍ဖြစ်သည်။ တမန်တော်မြတ် 'ဝဖာတ်' ဖြစ်ပြီးသည့်နောက် 'ရိစာလတ်' သည် အလျင်းမရှိတော့ပေ။ တမန်တော်မြတ်သည် ရစူလ်တမန်တော် အပေါင်းတို့တွင် နောက်ဆုံးပွင့်တော်မူသော "ခါတမွန်နဗီယီန်" ဖြစ်သည်။ တမန်တော်မြတ်၏ နောက်တွင် တမန်တော်တပါးမျှ ပွင့်ရန်မရှိပြီ။

'ခုလဖာအေ့ရာရှိဒီန်' ခေါ် ခလီဖဟ်ကြီးလေးပါးတို့၏ ကျင့်စဉ်များသည်လည်း ဟနဖီများ၏ ယူဆချက်အတိုင်းပင် ဖြစ်ပေသည်။ ထိုခလီဖဟ်ကြီးလေးပါးတို့သည် တမန်တော်မြတ်၏ ဝေစုဝေပုံကို မည်သည့်အခါမျှ မယူခဲ့ကြပေ။

(ခ) လက်ရပစ္စည်း နှစ်ဆယ့်ငါးပုံတပုံကို (ذوى القربى) ခေါ် တမန်တော်မြတ်၏ဆွေတော်မျိုးတော်များ ရရှိခဲ့ကြသည်၊ ၎င်းတို့သည် တမန်တော်မြတ်အား မက္ကာမြို့မှ မဒီနာအထိ အချိန်အခါမရွေး အသက်ပေး၍ ကာကွယ်ထိန်းသိမ်း စောင့်ရှောက်ကူညီခဲ့ကြပေသည်။ ဆွေတော်မျိုးတော်များသည် ယင်းကဲ့သို့ ကူညီစောင့်ရှောက်မှု ကို အကြောင်းပြု၍ ဤဝေစုကို ရရှိခဲ့ခြင်းဖြစ်သည်။ ➤➤

إِذْ أَنتُم بِالْعُدْوَةِ الدُّنْيَا وَهُم بِالْعُدْوَةِ الْقُصْوَىٰ وَالرَّكْبُ أَسْفَلَ مِنكُمْ ۚ

၄၂။ ထို(အုပ်စုတစုနှင့်တစု ရင်ဆိုင်တွေ့ကြုံကြသော)အချိန်အခါတွင် အသင်တို့သည် (စစ်မြေပြင်၏) အနီး၌ ရှိခဲ့ကြကုန်၏။ သို့ရာတွင် ၎င်းတို့မှာ အဝေး၌ ရှိခဲ့ကြကုန်၏။ ထို့ပြင် ကုန်သည်စုမှာကား အသင်တို့၏ အောက်တွင် ရှိခဲ့ကြလေသည်။ ၁

---

➤➤ **မှတ်ချက်**

"လိဇစ်လ်ကုရ်ဗါ" ၌ပါရှိသော 'လာမ်' သည် ပိုင်ဆိုင်ခြင်း၊ ရထိုက်ခြင်း၏အနက်ကို ဖော်ပြရန်မဟုတ်၊ ခွဲဝေသုံးစွဲရာဌာနကို၊ ညွှန်ပြရန်အတွက်သာဖြစ်သည်။

ဆွေတော်မျိုးတော်များ၏ ဤဝေစုဝေပုံသည်လည်း တမန်တော်မြတ် ဝဖာတ်ဖြစ်ပြီးသည့် နောက်ပိုင်းတွင် ရပ်စဲသွားခဲ့လေသည်။

ဤသည် လက်ရပစ္စည်း ငါးပုံတပုံ၏ ခွဲဝေရာ ဒုတိယဌာနဖြစ်သည်။

(ဂ) ဤသည့် လက်ရပစ္စည်းနှစ်ဆယ့်ငါးပုံတပုံသည် "ယတီမ်" ခေါ် ဖတဆိုး ကလေး သူငယ်များအဖို့ ဖြစ်သည်။ ဤကား ငါးပုံတပုံ၏ ခွဲဝေရာ တတိယဌာနဖြစ်သည်။

(ဃ) လက်ရပစ္စည်း နှစ်ဆယ့်ငါးပုံတပုံသည် "မစ္စကီန်" သူဆင်းရဲများအဖို့ ဖြစ်သည်။ ဤကား ငါးပုံတပုံ၏ ခွဲဝေရာ စတုတ္ထဌာနဖြစ်သည်။

(င) လက်ရပစ္စည်း နှစ်ဆယ့်ငါးပုံတပုံသည် ဒုက္ခသည် ခရီးသည်များအဖို့ဖြစ်သည်။ ဤကား ငါးပုံတပုံ၏ ခွဲဝေရာ ပဥ္စမဌာနပင်ဖြစ်သည်။

**① 'ဗဒ်ရ်' စစ်မြေပြင် အနေအထား။**

'ဗဒ်ရ်' စစ်ပွဲဖြစ်ပွားရာ ဌာနသည် ပင်လယ်နီမှ ကုလားအုတ်ခရီးဖြင့် 'မန်ဇစ်လ်' (၁)စခန်းအကွာ၊ မဒီနာမြို့မှ မာန်ဇစ်လ် (၄)စခန်းအကွာ၊ မက္ကာမြို့မှ (၈)စခန်းအကွာတွင် တည်ရှိသည်။ ထိုဌာနသို့ မွတ်စ်လင်မ် စစ်သည်တော်များသည် အရှေ့မြောက်ဘက်မှသော်လည်းကောင်း၊ ကာဖိရ်စစ်သည်များသည် အရှေ့တောင်ဘက်မှလည်းကောင်း၊ အသီးသီး ချီတက်လာခဲ့ကြလေသည်။

မက္ကာမြို့မှ ဆီရိယနိုင်ငံသို့ သွားလာရန် လမ်းမကြီးတခုရှိသည်။ ထိုလမ်းမကြီးသည် မဒီနာမြို့နှင့် အတော်ပင် နီးကပ်လျက်ရှိသည်။ မွတ်စ်လင်မ်စစ်သည်တော်များ စခန်းချထားသော တောင်ပူစာသည် ထိုလမ်းမကြီးနှင့် ကပ်လျက် 'ဗဒ်ရ်' နယ်နိမိတ်၏အနီး အနောက်မြောက်ဘက်၌ တည်ရှိပြီး၊ မဒီနာမြို့ဘက်သို့နီး၏။

ဤသည့် အနေအထားကို ဤအာယတ်တော်တွင် (بِالْعُدْوَةِ الدُّنْيَا) ဟူ၍ မိန့်ဆိုထားတော်မူသည်။ ကာဖိရ်စစ်သည်များ စခန်းချထားသော တောင်ပူစာသည် ဗဒ်ရ်၏ အရှေ့တောင်ဘက်၌ တည်ရှိသည်။မဒီနာမြို့နှင့် ဝေးသည်။ ဤသည့်အနေအထားကို ဤအာယတ်တော်တွင် ( بِالْعُدْوَةِ الْقُصْوَىٰ ) ဟူ၍ မိန့်ဆိုထားတော်မူသည်။ အဗူစုဖ်ယာန် အုပ်ချုပ်လိုက်လာပါခဲ့သော ခရီးသွားကုန်သည်များသည် မွတ်စ်လင်မ် စစ်သည်များ၏ အောက်ဘက်တွင် (ဝါ) မက္ကာဆီရီယား သွားလမ်းမကြီးကို လွှတ်၍ ပင်လယ်နီ ကမ်းခြေကပ်ကာ သွားလျက်ရှိချေသည်။

ကြည့်- မာဂါိဒီ။

وَلَوْ تَوَاعَدْتُّمْ لَاخْتَلَفْتُمْ فِى الْمِيْعٰدِ ۙ وَلٰكِنْ لِّيَقْضِىَ اللّٰهُ اَمْرًا كَانَ مَفْعُوْلًا ۙ۬ لِّيَهْلِكَ مَنْ هَلَكَ عَنْۢ بَيِّنَةٍ وَّيَحْيٰى مَنْ حَىَّ عَنْۢ بَيِّنَةٍ ؕ وَاِنَّ اللّٰهَ لَسَمِيْعٌ عَلِيْمٌ ۙ﴿٤٢﴾

အကယ်၍သာ အသင်တို့(နှင့် ထိုသူတို့)သည် အချင်းချင်း (တဘက်နှင့်တဘက်) ချိန်းချက်ခဲ့ကြပါလျှင်၊ မုချဧကန် အသင်တို့သည် ထိုချိန်းချက်မှုနှင့် စပ်လျဉ်း၍ ကွဲလွဲခဲ့ကြပေမည်။ သို့ရာတွင်မူကား အလ္လာဟ်အရှင်မြတ်သည် (မလွဲမရှောင်သာ) ဖြစ်ရမည့် ကိစ္စတရပ်ကို ပြီးမြောက်စေတော်မူအံ့သောငှာ (ဝါ)သေကြေပျက်စီးမည့်သူသည် သက်သေလက္ခဏာ အထင်အရှား(တွေ့မြင်ပြီးနောက်) သေကြေပျက်စီးအံ့ သောငှာလည်းကောင်း၊ အသက်ထင်ရှား ရှိနေမည့် သူသည်လည်း သက်သေ လက္ခဏာ အထင်အရှား (တွေ့မြင်ပြီးနောက်) အသက်ထင်ရှား ရှိအံ့သော်ငှာ လည်းကောင်း၊ (ထိုအုပ်စုနှစ်စုကို ရင်ဆိုင်စေတော်မူခြင်းပင်) ဖြစ်ချေသည်။ ဧကန်မုချ အလ္လာဟ် အရှင်မြတ်သည် အကြွင်းမဲ့ကြားတော်မူသောအရှင်၊ အကြွင်းမဲ့သိတော်မူသောအရှင်မြတ်ပင်၊ ဖြစ်တော်မူပေသတည်း။

اِذْ يُرِيْكَهُمُ اللّٰهُ فِىْ مَنَامِكَ قَلِيْلًا ؕ وَلَوْ اَرٰىكَهُمْ كَثِيْرًا لَّفَشِلْتُمْ وَلَتَنَازَعْتُمْ فِى الْاَمْرِ وَلٰكِنَّ اللّٰهَ سَلَّمَ ؕ اِنَّهٗ عَلِيْمٌۢ بِذَاتِ الصُّدُوْرِ ﴿٤٣﴾

၄၃။ ၎င်းပြင် (အို-နဗီတမန်တော် ပြန်လည်၍ အောက်မေ့ပါလေ)၊ အကြင်အခါဝယ် အလ္လာဟ် အရှင်မြတ်သည် အသင့်အားအိပ်မက်တွင် ၎င်းတို့(၏ ဦးရေ)ကို အနည်းငယ်မျှသာ ပြသတော်မူခဲ့လေသည်။ အကယ်၍သာ ထို အရှင်မြတ်သည် အသင့်အား ၎င်းတို့(၏ဦးရေ)ကို များပြားစွာ ပြသတော်မူခဲ့ပါလျှင် အသင်တို့သည် ဧကန်မုချ စိတ်ဓါတ်ကျဆုံးခဲ့ကြသည့်အပြင်၊ ထိုကိစ္စနှင့်စပ်လျဉ်း၍ အချင်းချင်း အငြင်းပွားကာ အချင်းများခဲ့ကြမည်မှာလည်း မလွဲဧကန်တည်း။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် (အသင်တို့အား စိတ်ဓါတ်ကျဆုံးခြင်းနှင့် အချင်းချင်း အငြင်းပွားခြင်းမှ) ကယ်ဆယ်တော်မူခဲ့လေသည်။

ဧကန်စင်စစ် ထိုအရှင်မြတ်သည် စိတ်နှလုံး များတွင် ရှိသည်တို့ကို အကြွင်းမဲ့သိရှိတော်မူသော အရှင်မြတ်ပေတည်း။

وَإِذْ يُرِيكُمُوهُمْ إِذِ الْتَقَيْتُمْ
فِيٓ أَعْيُنِكُمْ قَلِيلًا وَيُقَلِّلُكُمْ
فِيٓ أَعْيُنِهِمْ لِيَقْضِيَ اللَّهُ
أَمْرًا كَانَ مَفْعُولًا ۗ وَإِلَى
اللَّهِ تُرْجَعُ الْأُمُورُ ﴿٤٤﴾

၄၄။ ထိုမှတပါး (ပြန်လည်၍ သတိရရှိကြလေကုန်)။ အကြင်အခါ၌ ထိုအရှင်မြတ်သည် အသင်တို့ (ထိုသူတို့နှင့် ရင်ဆိုင်)တွေ့ဆုံကြစဉ်၊ ၎င်းတို့(၏ ဦးရေ)ကို အသင်တို့အမြင်တွင် လျော့၍ ပြသတော်မူခဲ့၏။ ထိုနည်းတူစွာ အသင်တို့ကိုလည်း ၎င်းတို့၏ အမြင်၌ လျော့၍ပင် ပြသတော်မူခဲ့လေ၏။ (သို့ပြုတော်မူခြင်းမှာ) *အလ္လာဟ်အရှင်မြတ်သည် ပြုလိုတော်မူသည့် ကိစ္စတရပ်ကို ပြီးမြောက်စေတော်မူအံ့သောငှာ ဖြစ်ချေသည်။* [၁] အမှန်စင်စစ်သော်ကား ကိစ္စအရပ်ရပ်တို့သည် အလ္လာဟ်အရှင်မြတ် အထံတော်သို့ပင် ပြန်လည်၍ ရောက်ရှိမည်သာ ဖြစ်ချေသတည်း။

يَٰٓأَيُّهَا الَّذِينَ ءَامَنُوٓا إِذَا
لَقِيتُمْ فِئَةً فَاثْبُتُوا
وَاذْكُرُوا اللَّهَ كَثِيرًا
لَّعَلَّكُمْ تُفْلِحُونَ ﴿٤٥﴾

၄၅။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် အုပ်စုတစုနှင့် (ရင်ဆိုင်) တွေ့ဆုံကြရသောအခါ၊ *မြဲမြံကြံ့ခိုင်စွာတည်ရှိကြလေကုန်၊* [၂] ၎င်းပြင်အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား *များစွာ အောက်မေ့ တသကြလေကုန်။* [၃] သို့မှသာလျှင် အသင်တို့သည်အောင်မြင်ကြမည် ဖြစ်လေသည်။

---

(၁) ( لِيَقْضِيَ اللَّهُ أَمْرًا كَانَ مَفْعُولًا )ဟူသောဝါကျတော်သည် ဤမုက္ခပါဌ်တော်တွင်လည်း ပါရှိ၏။ (၈း၄၂) တွင်လည်း ပါရှိခဲ့၏။ သို့ရာတွင် အဆိုပါ ဝါကျတော်နှစ်ခု၏ အနက်သဘောသည် အောက်ပါအတိုင်း ကွဲပြားခြားနားသည်။

ဤဝါကျတော်ကို နှစ်ကြိမ် သုံးထားတော်မူသည်။ အဘယ်ကြောင့်ဆိုသော် ပဌမဝါကျတွင် မွတ်စ်လင်မ်စစ်သည်များနှင့် ကာဖိရ်စစ်သည်များအား တွေ့ဆုံစေတော်မူရန် ဖြစ်သည်။ ဒုတိယဝါကျတွင် မုရှ်ရစ်က်များအား သေကြေပျက်စီးစေတော်မူရန်နှင့် အစ္စလာမ် သာသနာတော်ကို မြှင့်တင် ဂုဏ်မြောက်စေတော်မူစေရန် ဖြစ်သည်။ ဤသည် မွတ်စ်လင်မ်တို့အား ကျေးဇူးတော်ကို အပြည့်အဝ ချီးမြှင့်တော်မူခြင်းပင်ဖြစ်သည်။ (ကုရ်တုဗီ)

ဤအာယတ်တော်နှင့် ဆက်စပ်၍ ကုရ်အာန် (၃း၁၂။ ၃း၁၂၂-၁၂၆) ကို ရှုပါကုန်။

وَأَطِيعُوا اللَّهَ وَرَسُولَهُ وَلَا تَنَازَعُوا فَتَفْشَلُوا وَتَذْهَبَ رِيحُكُمْ وَاصْبِرُوا إِنَّ اللَّهَ مَعَ الصَّابِرِينَ ﴿٤٦﴾

၄၆။ ထိုမှတပါး အသင်တို့သည် အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်များကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်၏ အမိန့်တော်များကိုလည်းကောင်း၊ လိုက်နာကြလေကုန်။ [၁] ထို့ပြင်အသင်တို့သည်အချင်းချင်း *အငြင်းမပွားကြကုန်လင့်။* [၂] သို့ အငြင်းပွားခဲ့ကြလျှင် အသင်တို့သည် စိတ်ဓါတ်ကျဆုံးကြပေမည်။ အသင်တို့၏ လေ(အားအင်)သည်လည်း ဆုတ်ယုတ်သွားချေမည်။ ၎င်းပြင် အသင်တို့သည် သည်းခံကြလေကုန်။ [၃] ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် သည်းခံသူတို့နှင့် အတူရှိတော်မူပေသတည်း။

---

(၂) အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ စစ်မြေပြင်တွင် ရန်သူများနှင့် ရင်ဆိုင်တွေ့ကြုံကြရသောအခါ မွတ်စ်လင်မ်များ လိုက်နာစောင့်စည်းကြရမည့် စည်းကမ်းချက်ခြောက်ချက်ကို ကုရ်အာန်(၈း၄၅–၄၇)တွင် မိန့်ဆိုထားတော်မူသည်။

**၁။ ပထမစည်းကမ်းချက်။**

မွတ်စ်လင်မ်များသည် စစ်မြေပြင်တွင်ရန်သူများနှင့် ရင်ဆိုင်တွေ့ကြုံရသောအခါ မကြောက်မရွံ့ နောက်မတွန့်ပဲ မယိမ်းမယိုင် ကျောက်တိုင်ပမာ ကြံ့ခိုင်စွာ တည်ရှိနေကြရမည်၊ စိတ်ဓာတ်အလျင်း မကျဆင်းကြရ၊ သတ္တိအလျင်းမကြောင်ကြရ၊ ထွက်မပြေးကြရ။

**(၃) ၂။ ဒုတိယစည်းကမ်းချက်။**

"ဇစ်က်ရ်" ဟူသော ပုဒ်တွင် ဆွလာတ်ဝတ်ပြုခြင်း 'ဒိုအာ' ဆုတောင်းခြင်း၊ 'တက္ဗီရ်' ဆိုခြင်းနှင့် အလ္လာဟ်အရှင်မြတ်အား အောက်မေ့ တသ၊ သတိရမှု အစုစုတို့သည် အားလုံး အကျုံးဝင်လျက်ရှိပေသည်။

အလ္လာဟ်အရှင်မြတ်အား အမြဲတစေ အောက်မေ့တသသတိရကြရမည်၊ အထူးသဖြင့် စစ်မြေပြင်တွင် ထိုအရှင်မြတ်အား ပို၍ပင် အောက်မေ့တသသတိရကြရပေမည်၊ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရခြင်းအားဖြင့် စိတ်ဓါတ်ကြံ့ခိုင်လာ၏။ ယုံကြည်စိတ်ချလာ၏။ စိုးရိမ်ကြောင့်ကြမှုများ ကင်းစင်လာ၏။ ဤသည် စစ်မြေပြင်တွင် အများဆုံးလိုအပ်သော အချက်ပင်ဖြစ်သည်။ 'ဆွဟာဗဟ်' သာဝကကြီးများ၏ အကြီးဆုံးသော လက်နက်သည် ဤသည့်အချက်ပင်ဖြစ်သည်။ ဤအကြောင်းကို ကုရ်အာန် (၁၃း၂၈)တွင်လည်း မိန့်ဆိုထားတော်မူသည်။

**(၁) ၃။ တတိယစည်းကမ်းချက်။**

အလ္လာဟ်အရှင်မြတ်၏အမိန့်တော်များနှင့် တမန်တော်မြတ်၏ဩဝါဒတော်များကို အချိန်အခါ နေရာဌာနမရွေး အမြဲတစေ အစဉ်တစိုက် လိုက်နာရမည်သာဖြစ်သည်။ စစ်မြေပြင်တွင် စစ်တိုက်ခိုက်နေသည့် အချိန်မှာလည်း လိုက်နာရမည်သာဖြစ်သည်။ အမိန့်တော်များကိုနာခံရာတွင် မည်သည့်ဌာန၊ မည်သည့်အချိန်တွင်မျှ ပျက်ကွက်မှု၊ ပေါ့လျော့မှု အလျင်းမရှိစေရ။

وَلَا تَكُونُوا كَالَّذِينَ خَرَجُوا مِن دِيَارِهِم بَطَرًا وَرِئَاءَ النَّاسِ وَيَصُدُّونَ عَن سَبِيلِ اللَّهِ ۚ وَاللَّهُ بِمَا يَعْمَلُونَ مُحِيطٌ ﴿٤٧﴾

၄၇။ ၎င်းပြင် (အို-"မုအ်မင်န်"သက်ဝင်ယုံကြည်သူအပေါင်းတို့) အသင်တို့သည် *အကြင်သူတို့ကဲ့သို့ မဖြစ်ကြကုန်လင့်*။ [၁] ထိုသူတို့သည် မိမိတို့အိမ်များမှ ပလွှားဝါးကြွားလျက်လည်းကောင်း၊ လူတို့အား ပြစားလျက်လည်းကောင်း၊ ထွက်လာခဲ့ကြလေသည်။ ထို့ပြင် ၎င်းတို့သည် (သူတပါးတို့အား) အလ္လာဟ်အရှင်မြတ်၏လမ်းတော်မှ ပိတ်ပင်တားဆီးခဲ့ကြလေသည်။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ပြုမူသမျှတို့ကို ဝန်းဝိုင်းလျက်ရှိတော်မူသတည်း။

وَإِذْ زَيَّنَ لَهُمُ الشَّيْطَانُ أَعْمَالَهُمْ وَقَالَ لَا غَالِبَ

၄၈။ ထို့ပြင် (ပြန်လည်အောက်မေ့ သတိရကြလေကုန်)။ အကြင်အခါဝယ် 'ရှိုင်တွာန်' မိစ္ဆာကောင်သည် ၎င်းတို့၏အပြုအမူတို့ကို ၎င်းတို့၏အမြင်၌ လှပတင့်တယ်အောင် ပြုခဲ့လေသည်။

---

**(၂) ၄။ စတုတ္ထစည်းကမ်းချက်။**

မွတ်စ်လင်မ်များသည် နောက်လိုက်များ အချင်းချင်းတွင်သော်လည်းကောင်း၊ နောက်လိုက်များနှင့် အကြီးအကဲ ရှေ့ဆောင်ရှေ့ရပ်များတွင်သော်လည်းကောင်း၊ အငြင်းမပွားကြရ။ စစ်မြေပြင်တွင်(Discipline) နည်းစံနစ်ကျနစေရန် အလို့ငှာ၊ စည်းကမ်းသေဝပ်မှု၊ အအုပ်အချုပ်ခံယူမှုသည် အလွန်အရေးကြီးလိုအပ်ပေသည်။ အချင်းချင်း အငြင်းပွားမှု၊ မကျေလည်မှုများသည် (Discipline)အတွက် အကြီးဆုံးသော အဆိပ်အတောက်ပင်ဖြစ်ပေသည်။ အကယ်၍ စစ်မြေပြင်တွင် အချင်းချင်း အငြင်းပွားကြလျှင် မွတ်စ်လင်မ်များသည် အကွဲကွဲအပြားပြားဖြစ်ပြီး၊ စိတ်ဓါတ်ကျဆုံးသွားကာ၊ အားအင်လည်း ဆုတ်ယုတ်ပျက်ပြားသွားပေမည်။

**(၃) ၅။ ပဉ္စမစည်းကမ်းချက်။**

မွတ်စ်လင်မ်များသည် မိမိတို့မနှစ်မြို့သော ကိစ္စများနှင့်စပ်လျဉ်း၍ သည်းခံကြရမည်၊ မိမိတို့၏ စိတ်ဓါတ်များကို ချုပ်တည်းထားကြရမည်။ ခံနိုင်ရည်ရှိကြရမည်။ ယခုခေတ်သုံးစကားအရ အရေးထူကြရမည်။ အရေးကိစ္စများတွင် သည်းခံမှုသည်လည်း အောင်မြင်မှု၏ သော့ချက်တခုပင် ဖြစ်ပေသည်။ အလ္လာဟ်အရှင်မြတ်သည်လည်း သည်းခံသူများနှင့် အတူတကွရှိတော်မူပေသည်။

**(၁) ၆။ ဆဋ္ဌမစည်းကမ်းချက်။**

မွတ်စ်လင်မ်များသည် အရာရာတွင် စိတ်စေတနာ ဖြူစင်စွာထားရှိကြရမည်။ ကြွားဝါမှု၊ ပလွှားမှု၊ ပြစားမှု၊ အလ္လာဟ်အရှင်မြတ်၏လမ်းတော်မှ ပိတ်ပင်တားဆီးမှုများသည် ကာဖိရ်၊ မုရှ်ရစ်က်တို့၏ အပြုအမူများသာ ဖြစ်ချေသည်။ ဗဒ်ရ်စစ်ပွဲ ဆင်နွှဲရန်အတွက် မိမိတို့၏အိမ်များမှ ထွက်လာခဲ့ကြသော ကာဖိရ်များသည်လည်း ပလွှားကြ၏၊ ပြစားကြ၏၊ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်မှသူတပါးတို့အား ပိတ်ပင်တားဆီးကြ၏ မွတ်စ်လင်မ်တို့သည် ထိုထိုသော ကာဖိရ်၊ မုရှ်ရစ်က်တို့ကဲ့သို့ အလျှင်းမဖြစ်ကြရ။

لَكُمُ الْيَوْمَ مِنَ النَّاسِ
وَإِنِّي جَارٌ لَّكُمْ ۖ فَلَمَّا تَرَاءَتِ
الْفِئَتَانِ نَكَصَ عَلَىٰ عَقِبَيْهِ
وَقَالَ إِنِّي بَرِيءٌ مِّنكُمْ إِنِّي
أَرَىٰ مَا لَا تَرَوْنَ إِنِّي أَخَافُ
اللَّهَ ۚ وَاللَّهُ شَدِيدُ
الْعِقَابِ ﴿٤٨﴾

၎င်းပြင် ထိုရှိုင်တွာန်မိစ္ဆာကောင်က "ယနေ့ လူတို့အနက်မှ အသင်တို့အား အောင်နိုင်မည့်သူဟူ၍ မည်သူတဦးတယောက်မျှ မရှိချေ။ ငါသည် အသင်တို့အား ကာကွယ်စောင့်ရှောက်မည့်သူ ဖြစ်သည်" ဟူ၍လည်းပြောဆိုခဲ့လေသည်။ ထို့နောက် အုပ်စုနှစ်စုသည် ရင်ဆိုင်ကြလေသောအခါ ယင်း"ရှိုင်တွာန်"မိစ္ဆာကောင်သည် နောက်ဆုတ်၍ ထွက်ပြေးသွားခဲ့လေသည်။ ၎င်းပြင် ယင်း "ရှိုင်တွာန်" မိစ္ဆာကောင်က "ဟယ်-အချင်းတို့၊ ငါသည် အသင်တို့နှင့်မပတ်သက်၊ တာဝန်ကင်းသည်။ ငါသည် အသင်တို့မမြင်ရသောအရာများကိုမြင်၏။ ငါသည် ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ပါ၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ပြင်းထန်စွာအပြစ်ပေးတော်မူသော အရှင်မြတ်ပင်ဖြစ်တော်မူသည်" ဆိုခဲ့လေသည်။ [၁]

---

(၁) သာဝကကြီး အစ်ဗ်နုအဗ်ဗားစ်(ရဒိယလ္လာဟု တအာလာအန်ဟု)သခင်ထံမှ ဤသို့ကြားသိရ၏။ အစ်ဗ်လီစ်သည် ဗဒ်ရ်စစ်ပွဲနေ့တွင် စုရာကဟ် အစ်ဗ်နုမာလစ်က် အစ်ဗ်နုဂျုအ်ရှုန်မ်၏ ရုပ်ဆောင်၍ ရှိုင်တွာန်အုပ်စုနှင့် အတူတကွ အလံကိုင်ကာ ရောက်ရှိလာခဲ့၏။ ၎င်းနောက် ရှိုင်တွာန်က မုရှ်ရစ်က်တို့အား "ယနေ့ အသင်တို့ကို မည်သူမျှ အောင်နိုင်မည်မဟုတ်။ ကျွန်ုပ်တို့သည် အသင်တို့အား ကာကွယ်စောက်ရှောက်ပါမည်" ဟု ပြောဆိုလေသည်။ နှစ်ဘက်သော စစ်သည်တော်များသည် စစ်ပွဲဆင်နွှဲရန် တန်းစီကြသောအခါ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မြေတဆုပ်ယူ၍ မုရှ်ရစ်က်တို့၏မျက်နှာဘက်သို့ ပစ်ပက်တော်မူလိုက်ရာ မုရှ်ရိစ်က်များသည် ကျောခိုင်း၍ သွားကြလေသည်။

၎င်းနောက် ကောင်းကင်တမန်ဂျစ်ဗ်ရအီလ်သည် အစ်ဗ်လီစ်ထံသို့ ရောက်ရှိလာ၏။ ထိုအချိန်တွင် အစ်ဗ်လီစ်သည် မုရှ်ရစ်က်(အကြီးအကဲ) တယောက်၏ လက်ကိုဆွဲကိုင်လျက်ရှိသည်။ အစ်ဗ်လီစ်သည် ကောင်းကင်တမန် ဂျစ်ဗ်ရအီလ်အား တွေ့မြင်လိုက်သောအခါ မိမိ၏လက်ကို ဆွဲနှုတ်၍ မိမိအုပ်စုနှင့်အတူ ကျောခိုင်းထွက်ပြေးလေသည်။ ထိုအခါ အဆိုပါမုရှ်ရိစ်က်က 'အို-စုရာကဟ်၊ အသင်သည် ကျွန်ုပ်တို့အား ကာကွယ်ထိန်းသိမ်းမည်ဟု ဆိုသည်၊ ယခု အဘယ့်ကြောင့် ပစ်ပယ်ဆုတ်ခွာသွားသနည်း" ဟုမေးရာ၊ အစ်ဗ်လီစ်က ကျွန်ုပ်သည် အသင်တို့မမြင်သောအရာကို မြင်သည်၊ ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ပါသည်၊ အလ္လာဟ်အရှင်မြတ်သည် ပြင်းထန်စွာ ပြစ်ဒဏ်ပေးတော်မူသော အရှင်မြတ်ဖြစ်တော်မူသည်" ဟု ဖြေကြားလေသည်။

ထိုအချိန်တွင် ရှိုင်တွာန်သည် ကောင်းကင်တမန်များကို တွေ့မြင်ရသော အချိန်ပင်ဖြစ်သည်။

(အစ်ဗ်ရနုဂျရီရ်၊ အ-၁၀။ စ-၁၄) (အစ်ဗ်နုကဆီရ်၊ အ-၂။ စ-၃၁၇)

၄၉။ (ပြန်လည်၍ သတိရရှိကြလေကုန်)။ အကြင် အခါ၌"မုနာဖစ်က်" မွတ်စ်လင်မ်အယောင်ဆောင်တို့က လည်းကောင်း၊ *စိတ်နှလုံးတွင်း၌ ရောဂါစွဲကပ်လျက် ရှိသူတို့ကလည်းကောင်း၊* [၁] (မွတ်စ်လင်မ်များနှင့် ပတ်သက်၍) "ဤသူတို့အား ၎င်းတို့၏ဒီန်သာသနာက လှည့်စား၍ထားလေသည်" ဟုပြောဆိုကြကုန်၏။

အမှန်စင်စစ်သော်ကား မည်သူမဆို အလ္လာဟ် အရှင်မြတ်အပေါ်၌ ယုံကြည်စိတ်ချ လွှဲအပ်သည် ရှိသော် (ထိုသူသည် အောင်မြင်မည်သာ ဖြစ်သည်၊ အဘယ်ကြောင့်ဆိုသော်) ဧကန်မလွဲ အလ္လာဟ်အရှင် မြတ်သည် တန်ခိုးအာနုဘော်ဖြင့် လွှမ်းမိုးတော်မူ သောအရှင်၊ နက်နဲသိမ်မွေ့သော ဆင်ခြင်တုံတရား နှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူသော ကြောင့်ပင် ဖြစ်ပေသတည်း။

إِذْ يَقُولُ الْمُنَٰفِقُونَ وَالَّذِينَ فِى قُلُوبِهِم مَّرَضٌ غَرَّ هَٰٓؤُلَآءِ دِينُهُمْ ۗ وَمَن يَتَوَكَّلْ عَلَى اللَّهِ فَإِنَّ اللَّهَ عَزِيزٌ حَكِيمٌ ﴿٤٩﴾

၅၀။ ထို့ပြင် (အို-နဗီတမန်တော်) အကယ်၍သာ 'မလာအိကဟ်' ကောင်းကင်တမန်များသည် 'ကာဖိရ်' မယုံမကြည် သွေဖည်ငြင်းပယ်သောသူတို့၏ အသက် ဇီဝိန်ကိုနှုတ်ယူသောအချိန်တွင် ယင်းတို့၏မျက်နှာများ ကိုလည်းကောင်း၊ ယင်းတို့၏ ကျောက်ကုန်းများကို လည်းကောင်း၊ ရိုက်နှက်ကြ၍ "အသင်တို့သည် (ငရဲ)မီး၏ပြစ်ဒဏ်ကို မြည်းစမ်းကြလေကုန်" ဟု ပြောဆိုကြသည့် စက်ဆုပ်ရွံ့ရှာဖွယ်ရာ အဖြစ်ကို (အသင်) မုချ တွေ့မြင်ခဲ့ရပေမည်။ [၂]

وَلَوْ تَرَىٰٓ إِذْ يَتَوَفَّى الَّذِينَ كَفَرُوا ۙ الْمَلَٰٓئِكَةُ يَضْرِبُونَ وُجُوهَهُمْ وَأَدْبَٰرَهُمْ وَذُوقُوا عَذَابَ الْحَرِيقِ ﴿٥٠﴾

---

(၁) "ဗဒ်ရ်" စစ်ပွဲတွင် မွတ်စ်လင်မ်တို့သည် စစ်သည်အင်အား၊ စစ်လက်နက်အင်အား အလွန်ကြီးမားများပြားလှသော ကာဖိရ်များနှင့် ပြိုင်ဆိုင်တိုက်ခိုက်ခဲ့ရခြင်းဖြစ်သည်။ မွတ်စ်လင်မ်များသည် ထိုစစ်ပွဲတွင် စစ်သည်အင်အားလည်း နည်းခဲ့၏။ စစ်လက်နက်လည်းနည်းခဲ့၏။ မျက်မြင်အားဖြင့် မွတ်စ်လင်မ်တို့၏ ဤအင်အားနည်းပါးမှုကို ကြည့်၍ မုနာဖစ်က်များနှင့် စိတ်နှလုံးတွင်ရောဂါရှိသော (ဝါ) စိတ်ဓာတ်နုနယ်သေးသော အချို့မုအ်မင်န်များက "ဤသူများ အား ၎င်းတို့၏သာသနာက လှည့်စားထားပေပြီ" ဟု ပြောဆိုခြင်းမှာ အထူးအဆန်းမဟုတ်ပေ။ ➤➤

၅၁။ ဤ(ပြစ်ဒဏ်)သည် အသင်တို့၏လက်များက တင်ကြို၍ ပို့ထားနှင့်ပြီးဖြစ်သော (အကုသိုလ်ဒုစရိုက်များ)ကြောင့်ပင် ဖြစ်ချေသည်။ အမှန်စင်စစ်မူကား အလ္လာဟ် အရှင်မြတ်သည် (မိမိ)၏ ကျွန်များအား *နှိပ်စက် ညှဉ်းပန်းတော် မူသောအရှင် အလျင်းမဟုတ်ပေ၊*[၁]

ذٰلِكَ بِمَا قَدَّمَتْ اَيْدِيْكُمْ وَاَنَّ اللّٰهَ لَيْسَ بِظَلَّامٍ لِّلْعَبِيْدِ ﴿٥١﴾

---

➤➤ ဤအာယတ်တော်တွင်ပါရှိသော " မုနာဖစ်က်" များဟူသည် မဒီနာမြို့ရှိ မုနာဖစ်က်များကို ဆိုလိုသည်။ "စိတ်နှလုံးတွင် ရောဂါရှိသူများ" ဟူသည် "မက္ကာမြို့ရှိ စိတ်ဓါတ်နုနယ်သေးသော၊ မရင့်ကျက်သေး သော မွတ်စ်လင်မ်များ" ကို ဆိုလိုသည်။

"စိတ်နှလုံးတွင်ရောဂါရှိသူများ" ဟူသည် ကုရိုက်ရှ်မျိုးနွယ်မှ အစ္စလာမ်ဘာသာကို သက်ဝင်ယုံကြည်ခဲ့သော လူတစုကို ဆိုလိုသည်။ ၎င်းတို့၏အစ္စလာမ်သည် ၎င်းတို့၏ စိတ်နှလုံးတွင် မရင့်ကျက်သေးပေ၊ ၎င်းတို့သည် 'ဟစ်ဂျ်ရတ်'လည်း မပြုကြသေးပေ။ (ကဗီရ်)။

⑵ များစွာသော 'မုဖတ်စ်စစ်ရ် အဌကထာရှင်များက' ဤအာယတ်တော်သည် 'ဗဒ်ရ်' စစ်ပွဲနှင့် စပ်လျဉ်းသည်ဟု ဆိုကြသည်။ သို့ရာတွင် ဤအာယတ်တော်လာပုဒ်များသည် ကာဖိရ်အားလုံးတို့နှင့် ပတ်သက်နေပေသည်။ ထို့အတွက် ဤအာယတ်တော်သည် 'အာလမေဗရ်ဇခ်'နှင့် စပ်လျဉ်းသည်ဟုဆိုအပ်ပေသည်။

အလို သဘောကား ကာဖိရ်များသည် ပစ္စက္ခ လောက၌ ဗဒ်ရ်စစ်ပွဲတွင် အကြီးအကျယ် ဆုံးရှုံးခဲ့ကြရလေပြီ၊ တဖန် အာလမေဗရ်ဇခ်၌ (ဤ အာယတ်တော်တွင် လာရှိသည့်အတိုင်း) ရိုက်နှက်ခြင်း ခံကြရဦးမည်ဖြစ်သည်။ ထို့ပြင် တဝ နောက်တမလွန်ဘဝ၌ ငရဲမီး၏ပြစ်ဒဏ်ကိုလည်း ခံစားကြရဦးမည်တည်း။

**မှတ်သားဖွယ်။**

ဤအာယတ်တော်နှင့် စပ်လျဉ်း၍ အေ့မာမ်ရာဇီသခင်က နက်နဲ သိမ်မွေ့သော အနက်အဓိပ္ပါယ်တရပ်ကို ထုတ်ဖော်ဖွင့်ဆိုထားသည်မှာ ကာဖိရ်များ၏ အသက်ဝိညာဉ်သည် ဤပစ္စုပ္ပန် ဘဝမှထွက်ခွာသွားသည့်အခါ ဤပစ္စုန်ပ္ပန်ဘဝကို စွန့်လွှတ်ရသည့်အတွက် ဝမ်းနည်းကြ၏။ ထို့နောက် တဖန် ကာဖိရ်များ၏ အသက်ဝိညာဉ်များသည် နောင်တမလွန်ဘဝကို တွေမြင်ရပြန်သောအခါ ထိုဘဝတွင်လည်း မိမိတို့အဖို့ မှောင်အတိဖြစ်နေသည်ကိုသာ တွေမြင်ရပြန်လေသည်။ ဤသို့အားဖြင့် ကာဖိရ်များအဖို့ ရှေ့သည်လည်းမကောင်း၊ နောက်သည်လည်းမကောင်း၊ ရှေ့နောက်နှစ်ဘက်စလုံးမှပင် အရိုက်အနှက် ခံကြရပေသည်။

⑴ ဤသို့ ပြစ်ဒဏ်ပေးတော်မူခြင်းမှာ လူသားတို့ ကြိုတင်ပို့ဆောင်ထားသော ပြစ်မှုဒုစရိုက်တို့၏ အကျိုးသာလျှင်ဖြစ်ချေသည်။ အလ္လာဟ်အရှင်မြတ်မှာကား အနည်းငယ် စိုးစဉ်းမျှပင် ညှဉ်းပန်းတော်မူသည်ဟူ၍ အလျင်းမရှိချေ။ (မပြောကောင်းမဆိုအပ်)။ အကယ်တန္တု အလ္လာဟ်အရှင်မြတ်ဘက်တော်မှ အနည်းငယ် စိုးစဉ်းမျှပင် ညှဉ်းပန်းမှုဖြစ်နိုင်ပါမူ ထိုအနည်းငယ်စိုးစဉ်းမျှသော ညှဉ်းပန်းမှုသည်ပင်လျှင် အနန္တဂုဏ်တော်ရှင် ဖြစ်တော်မူသော အလွန့်အလွန်ကြီးကဲထွဋ်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်အဘို့မှာမူ အလွန့်လွန်ကြီးမားသော ညှဉ်းပန်းမှု ဖြစ်သွားပေမည်။ အဘယ်ကြောင့်ဆိုသော် ပြည့်ဝစုံလင်တော်မူသော အရှင်၏ဂုဏ်တော်တိုင်းသည် ပြည့်ဝစုံလင် သည်သာဖြစ်ချေသည်။

كَدَأْبِ اٰلِ فِرْعَوْنَ ۙ وَالَّذِيْنَ مِنْ قَبْلِهِمْ ۭ كَفَرُوْا بِاٰيٰتِ اللّٰهِ فَاَخَذَهُمُ اللّٰهُ بِذُنُوْبِهِمْ ۭ اِنَّ اللّٰهَ قَوِيٌّ شَدِيْدُ الْعِقَابِ ﴿٥٢﴾

၅၂။ ("ကုဖ်ရ်" သွေဖည်မှုကြောင့် ပြစ်ဒဏ်ခံစားရရာ၌ အဆိုပါ ကာဖိရ်များ၏ အခြေအနေကား) ဖစ်ရ်အောင်န်၏ အခြွေအရံများ၏ အခြေအနေကဲ့သို့လည်းကောင်း၊ ယင်း(ဖစ်ရ်အောင်န်၏ အခြွေအရံများ)၏ အလျင် ရှေးအထက်ကျော်ကာလီက ရှိခဲ့ကြသော သူတို့၏ အခြေအနေကဲ့သို့လည်းကောင်း၊ ဖြစ်ချေသည်။ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို မယုံကြည်ငြင်းပယ်ခဲ့ကြလေသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့အား ထိုသူတို့၏ ပြစ်မှုဒုစရိုက်များကြောင့် ဖမ်းဆီးကွပ်မျက်တော်မူခဲ့လေသည်။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အင်အားနှင့် အလွန် ပြည့်စုံတော်မူသော အရှင်၊ ပြင်းထန်စွာ ပြစ်ဒဏ်ပေးတော်မူသော အရှင်မြတ် ဖြစ်တော်မူပေသည်။

ذٰلِكَ بِاَنَّ اللّٰهَ لَمْ يَكُ مُغَيِّرًا نِّعْمَةً اَنْعَمَهَا عَلٰى قَوْمٍ حَتّٰى يُغَيِّرُوْا مَا بِاَنْفُسِهِمْ ۙ وَاَنَّ اللّٰهَ سَمِيْعٌ عَلِيْمٌ ۙ﴿٥٣﴾

၅၃။ ဤသည်ကား အဘယ်ကြောင့် ဆိုသော် အလ္လာဟ် အရှင်မြတ်သည် အကြင် လူမျိုးတမျိုး၏ အပေါ်၌ပြုတော်မူခဲ့သော မည်သည့်ကျေးဇူးတော်ကိုမျှ ထိုလူမျိုးတို့သည် မိမိတို့ကိုယ်တိုင် မိမိတို့၏ အခြေအနေကို မပြောင်းလဲသမျှ ကာလပတ်လုံး *ပြောင်းလဲပေးတော်မူသည်ဟူ၍* မရှိချေ။ [၁] ၎င်းပြင် ဧကန်မုချ အလ္လာဟ်အရှင်မြတ်သည် အကြွင်းမဲ့ ကြားတော်မူသောအရှင်၊ အကြွင်းမဲ့ သိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူချေသတည်း။

(၁) အကြင်အခါ လူသားတို့သည် ကောင်းမှုကုသိုလ်ပွားများနိုင်ရန်အတွက် လူ့သဘာဝအလျောက် ရရှိထားသော စွမ်းရည်သတ္တိများကို စနစ်တကျ အသုံးမပြုပဲ အလွဲလွဲ အမှားမှား ပြုလုပ်ပြောင်းလဲပစ်ကြ၏။ အလ္လာဟ်အရှင်မြတ် ချီးမြှင့်တော်မူထားသော ကျေးဇူးတော်များကို ထိုအရှင်မြတ် ပြဋ္ဌာန်းသတ်မှတ်ထားတော်မူသည့် လမ်းစဉ်များတွင် စနစ်တကျအသုံးမပြုကြရုံမက ထိုလမ်းစဉ်များကို ဆန့်ကျင်ရန်အတွက်ပင် အသုံးပြုကြ၏။ ထိုအခါ အလ္လာဟ် အရှင်မြတ်သည် ထိုသို့သောသူများထံမှ မိမိချီးမြှင့်ထားတော်မူသော ကျေးဇူးတော်များကို ပြန်လည် ➤➤

كَدَأْبِ اٰلِ فِرْعَوْنَ وَالَّذِيْنَ مِنْ قَبْلِهِمْ كَذَّبُوْا بِاٰيٰتِ رَبِّهِمْ فَاَهْلَكْنٰهُمْ بِذُنُوْبِهِمْ وَاَغْرَقْنَآ اٰلَ فِرْعَوْنَ وَكُلٌّ كَانُوْا ظٰلِمِيْنَ ﴿٥٤﴾

၅၄။ (မိမိတို့၏ အခြေအနေကို ပြောင်းလဲရာတွင် ထိုကာဖိရ်များ၏ အခြေအနေကား) ဖစ်ရ်အောင်န်၏ အခြွေအရံများ၏ အခြေအနေကဲ့သို့လည်းကောင်း၊ ယင်း(ဖစ်ရ်အောင်န်၏ အခြွေအရံများ)၏အလျင် ရှေးအထက်ကျော်ကာရီက ရှိခဲ့ကြကုန်သောသူတို့၏ အခြေအနေကဲ့သို့လည်းကောင်း၊ ဖြစ်ပေသည်။ ထိုသူတို့သည် မိမိတို့အား မွေးမြူတော်မူသောအရှင်မြတ်၏ သက်သေလက္ခဏာတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြလေသည်။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့၏ပြစ်မှုဒုစရိုက်များကြောင့် ဖျက်ဆီးတော်မူခဲ့လေသည်။ ထို့ပြင် ငါအရှင်မြတ်သည် ဖစ်ရ်အောင်န်၏ အခြွေအရံတို့ကို နစ်မြုပ်စေတော်မူခဲ့လေသည်။ အမှန်စင်စစ်သော်ကား ၎င်းတို့အားလုံးသည်ပင် မတရားကျူးလွန်သူများ ဖြစ်ခဲ့ကြကုန်သတည်း။

اِنَّ شَرَّ الدَّوَآبِّ عِنْدَ اللّٰهِ الَّذِيْنَ كَفَرُوْا فَهُمْ لَا يُؤْمِنُوْنَ ﴿٥٥﴾

၅၅။ မလွဲဧကန် အလ္လာဟ်အရှင်မြတ် အထံတော်တွင် *အဆိုးဆုံးသော သတ္တဝါတို့ကား* [၁] (ဤ)အကြင် မယုံမကြည် သွေဖည်ငြင်းပယ်သောသူတို့ပင်တည်း။ သို့ဖြစ်ပေရာ ၎င်းတို့သည် သက်ဝင် ယုံကြည်ကြမည့် သူများ မဟုတ်ချေ။

➤➤ ရုပ်သိမ်းတော်မူ၏။ မိမိ၏ ကျေးဇူးတော် များကိုလည်း ပြစ်ဒဏ်တော် များဖြင့် ပြောင်းလဲတော်မူလိုက်လေသည်။

အလ္လာဟ်အရှင်မြတ်သည် အကြွင်းမဲ့သိတော်မူသော ဉာဏ်တော်ရှင်ဖြစ်တော်မူ၏။ လူသားတို့ ပြောဆိုသမျှကို အကြွင်းမဲ့ကြားသိတော်မူ၏။ ပြုလုပ်သမျှကို အကြွင်းမဲ့သိမြင်တော်မူ၏။ ထိုအရှင်မြတ် မသိမမြင်တော်မူသောအရာဟူ၍ အလျှင်းမရှိ၊ ထို့အတွက်ကြောင့် ထိုအရှင်မြတ် ပြုစုစီရင်တော်မူသမျှသည် အခြေအနေနှင့် လုံးဝကိုက်ညီသင့်မြတ် မှန်ကန်သည်ချည်းသာလျှင် ဖြစ်ချေသတည်း။

(၁) အကြင်သူများသည် အမြဲတစေ သွေဖည်ငြင်းဆန် မနာခံပဲနေကြ၏။ အီမာန် ယုံကြည်ခြင်း သဒ္ဓါတရားအလျင်းမထားကြပေ။ နောင်ခံစားရမည့်ဘေးကို အလျင်းမတွေးပဲ အမြဲတစေ ကတိဖောက်ဖျက်ကြ၏။ ထိုသို့သောသူများသည် အလ္လာဟ်အရှင်မြတ်အထံတော်တွင် အဆိုးရွားဆုံးသောသတ္တဝါများပင် ဖြစ်ကြပေသည်။ ➤➤

၅၆။ ဤကာဖိရ်များကား အသင်သည် ထိုသူတို့ထံ
မှ (အကြိမ်ကြိမ်) ပဋိညာဉ်ယူခဲ့ပြီး ဖြစ်လေသည်။
ထို့နောက်သော်မှပင် ထိုသူတို့သည် မိမိတို့၏ပဋိညာဉ်
ကို အကြိမ်တိုင်း အကြိမ်တိုင်း ဖောက်ဖျက်ကြလေ
သည်။ အမှန်သော်ကား ထိုသူတို့သည် (ပဋိညာဉ်
ဖောက်ဖျက်ခြင်းနှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်
အား) ကြောက်ရွံ့ကြသည် မဟုတ်ပေ။

ٱلَّذِينَ عَٰهَدتَّ مِنْهُمْ ثُمَّ يَنقُضُونَ عَهْدَهُمْ فِى كُلِّ مَرَّةٍ وَهُمْ لَا يَتَّقُونَ ﴿٥٦﴾

၅၇။ သို့ဖြစ်ပေရာ အသင်သည် အကယ်၍ ၎င်းတို့
အား စစ်ပွဲတွင် (လက်ရ)ဖမ်းမိသည်ရှိသော်၊ အသင်
သည် ၎င်းတို့အားဖြင့် ၎င်းတို့အပြင်၌ ရှိကြကုန်
သော(ရန်)သူတို့အား ဖရိုဖရဲကစဉ့်ကလျား ဖြစ်အောင်
ပြုလေလော့၊ သို့မှသာလျှင် ၎င်းသူတို့သည် သတိရကြ
လတ္တံ့။ [၁] (တနည်း- နောင်ကြဉ်ကြလတ္တံ့)

فَإِمَّا تَثْقَفَنَّهُمْ فِى ٱلْحَرْبِ فَشَرِّدْ بِهِم مَّنْ خَلْفَهُمْ لَعَلَّهُمْ يَذَّكَّرُونَ ﴿٥٧﴾

➤➤ အတိတ်ခေတ်တွင် ဖစ်ရ်အောင်နှ်၏ အခြေအရံများသည်လည်း သွေးဖည်ငြင်းဆန် အမိန့်မနာခံပဲ အကြိမ်ကြိမ် ကတိဖောက်ဖျက်ခဲ့ကြပေသည်။ ကြည့် ကုရ်အာန် (၇:၁၃၀-၁၃၇)။ တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) လက်ထက်တော်တွင်လည်း ယဟူဒီဘာသာဝင် ဗနူကရိုင်ဇွာဟ်မျိုးနွယ်စုနှင့် အခြားယဟူဒီဘာသာဝင် မျိုးနွယ်စုတို့သည်လည်း "ကျွန်ုပ်တို့သည် မက္ကာမြို့သား မုရှ်ရစ်က်များအား ကူညီကြမည် မဟုတ်ပါ" ဟု တမန်တော်မြတ်နှင့် အကြိမ်ကြိမ် ပဋိညာဉ်စာချုပ်ချုပ်ဆိုကြပြီး အကြိမ်တိုင်းကိုပင် ကတိ ဖောက်ဖျက်ခဲ့ကြလေသည်။ ဤသို့ ကတိဖောက်ဖျက်သူများနှင့် မည်သို့မည်ပုံ ဆက်ဆံရမည့်အကြောင်း ရှေ့လာလတ္တံ့သော အာယတ်တော်များတွင် မိန့်ဆိုထားတော်မူသည်။

(၁) အကယ်၍ ဤကာဖိရ်သစ္စာဖောက်များသည် ချုပ်ဆိုထားသော ပဋိညာဉ်စာချုပ်များကို အတည့်အလင်း ပစ်ပယ်ပြီး တမန်တော်မြတ်အား ပြိုင်ဆိုင်တိုက်ခိုက်ရန်အတွက် စစ်မြေပြင်သို့ ထွက်လာကြလျှင် ၎င်းတို့အား ပြင်းပြင်းထန်ထန် ထိထိရောက်ရောက် ပြစ်ဒဏ်ပေးရမည်။ ထိုသို့ ပြင်းပြင်းထန်ထန် ပြစ်ဒဏ်ပေးခြင်းကို တွေ့မြင်၍ ၎င်းတို့နောက်တွင်ရှိနေသူများ၊ သို့မဟုတ် ၎င်းတို့နောက်မှ ပေါ်ပေါက်လာမည့် သားစဉ်မြေးဆက်တို့သည် လည်း သတိသံဝေဂ ရရှိသွားကြမည်။ ထို့ပြင်တဝ မည်သည့်အခါမျှ ကတိ ဖောက်ဖျက်ဝံ့ကြမည် မဟုတ်ပေ။

အီမာမ်ဗုခါရီနှင့် အီမာမ်မွတ်စ်လင်မ်နှစ်ပါးလုံးက မိမိတို့၏ကျမ်းများတွင် ထည့်သွင်းဖော်ပြထားကြသည်မှာ တမန်တော်မြတ်သည် ရန်သူများနှင့် ရင်ဆိုင်နေခဲ့ရသည့်အချိန် တနေ့တွင် "အို-လူအပေါင်းတို့ အသင်တို့သည် ရန်သူနှင့်တွေ့ဆုံရန် မတောင့်တကြကုန်လင့်၊ အလ္လာဟ်အရှင်မြတ်အထံတော်တွင် ငြိမ်းချမ်းသာယာမှုကိုသာ ပန်ကြားကြလေကုန်။ အသင်တို့သည် (မလွဲမရှောင်သာ၍) ရန်သူများနှင့် တွေ့ဆုံ ➤➤

၅၈။ ၎င်းပြင် အကယ်၍ အသင်သည် လူမျိုးတမျိုး ထံမှ ကတိသစ္စာဖောက်ဖျက်မည်ကို စိုးရိမ်မကင်း ဖြစ်ပါမူ၊ အသင်သည် (၎င်းတို့နှင့်ဖွဲ့ဆိုထားသည့် ပဋိညာဉ်စာချုပ်ကို ၎င်းတို့ထံပြန်လည်၍အပ်ပါလေ။ (ပဋိညာဉ်စာချုပ် ရုပ်သိမ်းပြီးဖြစ်ကြောင်းကို သိရှိရာတွင် အသင်နှင့် ၎င်းတို့သည်) တန်းတူဖြစ်ရှိသွားမည်။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် သစ္စာဖောက်ဖျက်သူတို့အား (လုံး၀) နှစ်သက်တော်မူသည် မဟုတ်ချေ။ ၁

وَإِمَّا تَخَافَنَّ مِن قَوْمٍ خِيَانَةً فَانبِذْ إِلَيْهِمْ عَلَىٰ سَوَاءٍ ۚ إِنَّ اللَّهَ لَا يُحِبُّ الْخَائِنِينَ ﴿٥٨﴾

---

➤➤ ကြရသောအခါ ကြွခိုင်စွာရပ်တည်ကြလေကုန်။ ဂျန္နတ်သည် ဓားလွယ်များ၏ အရိပ်အောက်တွင် ရှိနေသည်ကိုလည်း သိထားကြလေကုန်” ဟုမိန့်ကြားတော်မူခဲ့၏။ ထို့နောက် တမန်တော်မြတ်သည် “အို- ကျမ်းဂန်များကို ချပေးသနားတော်မူသော၊ တိမ်သလ္လာများကို ရွေ့လျားစေတော်မူသော၊ ရန်သူများကို ရှုံးနိမ့်စေတော်မူသော အလ္လာဟ်အရှင်မြတ်၊ အရှင်မြတ်သည် ထိုရန်သူများကို ရှုံးနိမ့်စေတော်မူပါ ကျွန်တော်မျိုးတို့အား ၎င်းတို့အပေါ်၌ အောင်မြင်မှုကိုပေးသနားတော်မူပါ” ဟုဆုပန်ကြားတော်မူခဲ့လေသည်။

ဤသည်ကို ထောက်ရှုခြင်းအားဖြင့် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းသည် အလ္လာဟ်အရှင်မြတ် အထံတော်၌လည်း နှစ်မြို့ဖွယ်ရာမဟုတ်ကြောင်း၊ ထိုအရှင်မြတ်၏ တမန်တော်မြတ်ထံတော်၌လည်း နှစ်မြို့ဖွယ်ရာ မဟုတ်ကြောင်း၊ လောကီဆိုင်ရာ ဂုဏ်ပကာသနအတွက်လည်း နှစ်မြို့ဖွယ်ရာမဟုတ်ကြောင်း၊ အမှန်မှာ လူ့အဖွဲ့ အစည်းတွင် ဆူပူသောင်းကျန်းမှုများ၊ ကျူးကျော်စော်ကားမှုများကို ပိတ်ပင်တားဆီးရန်လည်းကောင်း၊ လွတ်လပ်စွာ ယုံကြည်မှုနှင့် အမှန်တရားကို ပေါ်လွင်ထင်ရှားစေရန်အတွက်လည်းကောင်း၊ လွဲမှားသောအယူ၀ါဒကို လွဲမှားသည့် အယူ၀ါဒဖြစ်ကြောင်း ပေါ်လွင်ထင်ရှားစေရန်အတွက်လည်းကောင်း၊ လွဲမှားနေသူများ၏ ဘေးအန္တရာယ်မှ ကင်းလွတ်ရန်အတွက်လည်းကောင်း၊ လူ့အဖွဲ့အစည်းတွင် မရှိမဖြစ်သော လူမှုရေးကိစ္စတရပ်ဖြစ်ကြောင်း သိရှိရပေသည်။ ဤသည့်သဘောကိုပင် ကုရ်အာန်ကျမ်းမြတ် (၁၃း၁၇)တွင်လည်း မိန့်ဆိုထားတော်မူသည်။

(အလ်မနာရ်။ အ-၁၀။ စ-၅၁)

(၁) အကယ်၍ လူမျိုးတမျိုးသည် ချုပ်ဆိုထားသော ပဋိညာဉ်စာချုပ်ကို အတည့်အလင်း မဖောက်ဖျက်သော်လည်း ၎င်းတို့ထံမှ စာချုပ်ဖောက်ဖျက်မည့် နိမိတ်လက္ခဏာများ ပေါ်ပေါက်၍ ကတိပျက်မည်ကို စိုးရိမ်ရလျှင် တမန်တော်မြတ်သည် အခြေအနေအရ လျော်ကန်သင့်မြတ်သည်ဟု ယူဆပါက ထိုသို့သောလူမျိုးထံသို့ အချင်းချင်းဖွဲ့ဆိုထားသော ပဋိညာဉ်စာချုပ်ကို ရုပ်သိမ်းလိုက်ပြီဖြစ်ကြောင်း ကြိုတင်၍ အကြောင်းကြားတော်မူလိုက်ရမည်။ ဤသို့အားဖြင့် အုပ်စုနှစ်စုလုံးသည် ပဋိညာဉ်စာချုပ်နှင့် စပ်လျဉ်း၍ သို့လောသို့လော ဖြစ်ရှိမနေကြပဲ မိမိတို့ကိုယ်ကိုမိမိတို့ ကာကွယ်ထိန်းသိမ်းစောင့်ရှောက်နိုင်ရန် သာတူညီမျှ လွတ်လပ်စွာ ကြိုးပမ်းနိုင်ကြမည်။ ဤသို့ ပြုလုပ်ခြင်းအားဖြင့် တမန်တော်မြတ်အားလည်း ပဋိညာဉ်စာချုပ်ကို စတင်ဖောက်ဖျက်သည်၊ သစ္စာမဲ့သည်ဟူ၍ မည်သူမျှစွပ်စွဲပြောဆိုနိုင်မည်မဟုတ်ပေ။ အရေးကိစ္စအ၀၀သည် ရှင်းရှင်းလင်းလင်း၊ ➤➤

وَلَا يَحْسَبَنَّ الَّذِينَ كَفَرُوا
سَبَقُوا إِنَّهُمْ لَا يُعْجِزُونَ ﴿٥٩﴾

၅၉။ ထို့ပြင် ကာဖိရ် မယုံမကြည်သွေဖည်ငြင်းပယ်သောသူတို့က "မိမိတို့သည် လွတ်မြောက်ခဲ့ကြချေပြီ" ဟု *အလျှင်း မထင်မှတ်မယူဆကြရာချေ။* [၁] ဧကန်အမှန် ၎င်းတို့သည် (အလ္လာဟ်အရှင်မြတ်အား) မစွမ်းဆောင်နိုင်အောင် ပြုလုပ်နိုင်ကြသည် မဟုတ်ပေ။

وَأَعِدُّوا لَهُمْ مَا اسْتَطَعْتُمْ
مِنْ قُوَّةٍ وَمِنْ رِبَاطِ
الْخَيْلِ تُرْهِبُونَ بِهِ عَدُوَّ
اللَّهِ وَعَدُوَّكُمْ وَآخَرِينَ
مِنْ دُونِهِمْ لَا تَعْلَمُونَهُمُ
اللَّهُ يَعْلَمُهُمْ وَمَا تُنْفِقُوا

၆၀။ ထို့ပြင် အသင်တို့သည် ထိုကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့နှင့် ပြိုင်ဆိုင် (တိုက်ခိုက်)ရန် အလို့ငှာ မိမိတို့တတ်စွမ်းသမျှ (လက်နက်အစရှိသော) အင်အားကိုလည်းကောင်း၊ မွေးမြူထားသောမြင်းများကိုလည်းကောင်း၊ အဆင်သင့်စုဆောင်း၍ ထားရှိကြလေကုန်။ (သို့မှသာလျှင်) အသင်တို့သည် ထိုလက်နက်အင်အားဖြင့် အလ္လာဟ်အရှင်မြတ်၏ရန်သူများကိုလည်းကောင်း၊ မိမိတို့၏ရန်သူများကိုလည်းကောင်း၊ ထိုသူတို့အပြင် အခြား အကြင်သူတို့ကိုလည်းကောင်း ခြောက်လှန့်၍ ထားနိုင်ကြပေမည်။

➤➤ ပြတ်ပြတ်သားသား ဖြစ်သွားပေမည်။ အလ္လာဟ်အရှင်မြတ်သည် မည်သည့်အခါ မည်သည့်နေရာ မည်သူနှင့် ပတ်သက်၍ဖြစ်စေ ယုတ်စွအဆုံး စစ်မြေပြင်တွင် ကာဖိရ်ရန်သူများနှင့် ပတ်သက်၍ပင်လျှင် သစ္စာမဲ့မှု၊ ကတိဖျက်မှုကို အလျှင်း နှစ်သက်တော်မူသည်မဟုတ်ပေ။

(၁) ကုရ်အာန်ကျမ်းမြတ်(၈း၅၀)တွင် တဘက်အုပ်စုမှ ကတိသစ္စာ ဖောက်ဖျက်မည်ကို စိုးရိမ်ရလျှင် ပဋိညာဉ်စာချုပ်ရုပ်သိမ်း၍ တဘက်အုပ်စုအား အကြောင်းကြားရမည့်အကြောင်း ပါရှိခဲ့လေသည်။ ကာဖိရ်များက ဤသည့်အချက်နှင့်စပ်လျဉ်း၍ မွတ်စ်လင်မ်များသည် အလွန်ဖြူစင်ရိုးသားကြသည်ဟု ယူဆကာ ဝမ်းမြောက်ကောင်းဝမ်းမြောက်ကြပေမည်။ မွတ်စ်လင်မ်များထံတွင် သစ္စာဖောက်ပိုင်ခွင့်မရှိ။ ထို့ပြင်တဝ စာချုပ်ရုပ်သိမ်းခြင်းကို ငါတို့အချိန်မီ သိရှိကြပေရာ ငါတို့သည် မိမိတို့ကိုယ်ကို ကာကွယ်ရန်နှင့် မွတ်စ်လင်မ်တို့အား ချေမှုန်းနိုင်ရန် အချိန်အခါနှင့် အခွင့်အလမ်းရရှိပြီဟု ထင်မှတ်ကောင်း ထင်မှတ်ကြပေလိမ့်မည်။

ဤအာယတ်တော်တွင် ယင်းသို့ ထင်မှတ်နေကြသော ကာဖိရ်တို့အား ရည်ညွှန်းမိန့်ကြားထားတော်မူသည်မှာ ကာဖိရ်များသည် အဘယ်မျှပင် ကြိုတင်ပြင်ဆင်မှုများ၊ စီစဉ်မှုများ၊ ပြုလုပ်ကြလင့်ကစား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား မွတ်စ်လင်မ်တို့၏လက်ဖြင့် ဂုဏ်အင်သေးသိမ်စေရန်နှင့် ဤဘဝ သို့မဟုတ် နောင်တမလွန်ဘဝတွင် ပြစ်ဒဏ်ပေးရန် အလိုတော်ရှိပါလျှင် ယင်းကာဖိရ်များသည် မည်သို့မည်ပုံ ကြံစည်အားထုတ်ကြစေကာမူ ထိုအရှင်မြတ်အား မစွမ်းဆောင်နိုင်အောင် အလျှင်းပြုစွမ်းနိုင်ကြမည်မဟုတ်ပေ။ ➤➤

مِنْ شَيْءٍ فِيْ سَبِيْلِ اللّٰهِ يُوَفَّ اِلَيْكُمْ وَاَنْتُمْ لَا تُظْلَمُوْنَ ﴿٦٠﴾

ထိုသူတို့အား အသင်တို့သည် မသိကြချေ။ (သို့ရာတွင်) အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား သိရှိတော်မူ၏။ ထို့ပြင်တဝ အသင်တို့ အလ္လာဟ် အရှင်မြတ်၏ လမ်းတော်၌ သုံးစွဲသမျှ တို့ကို (ထိုအရှင်မြတ်သည်) အသင်တို့အား ပြည့်စုံစွာ ချီးမြှင့်တော်မူအံ့။ စင်စစ်သော်ကား အသင်တို့သည် (အနည်းငယ်မျှ) ယုတ်လျော့၍ပေးခြင်းကို ခံကြရလိမ့် မည် မဟုတ်ပေ။

وَاِنْ جَنَحُوْا لِلسَّلْمِ فَاجْنَحْ لَهَا وَتَوَكَّلْ عَلَى اللّٰهِ ۭ اِنَّهٗ هُوَ السَّمِيْعُ الْعَلِيْمُ ﴿٦١﴾

**၆၁။** ၎င်းပြင် အကယ်၍ထိုသူတို့သည် စစ်ငြိမ်းရန် အလို့ငှာ ယိမ်းညွှတ်ကြပါမူ အသင်သည်လည်း ထို *စစ်ငြိမ်းရန်ယိမ်းညွှတ်ပါလေ၊* [၁] သို့ရာတွင် အသင် တို့သည် အလ္လာဟ်အရှင်မြတ်အပေါ်၌ ယုံကြည်စိတ်ချ လွှဲအပ်ပါလေ။ ဧကန်မလွဲ ထိုအရှင်မြတ်သည်ပင် လျှင် (အရာခပ်သိမ်းတို့ကို) အကြွင်းမဲ့ ကြားတော်မူ သော အရှင်၊ အကြွင်းမဲ့ သိတော်မူသော အရှင် ဖြစ်တော်မူပေသတည်း။

➤➤ ထိုအရှင်မြတ်၏လက်တော်တွင်းမှလည်း အလျှင်း လွတ်မြောက်သွားနိုင်ကြမည်မဟုတ်ပေ။ တနည်းအားဖြင့် မွတ်စ်လင်မ်များသည် အလ္လာဟ်အရှင်မြတ်အား လွှဲအပ်၍ အမိန့်တော်များကို ဦးလည်မသုန် လိုက်နာကျင့်သုံး ကြပါလျှင် အားလုံးတို့ကို အောင်နိုင်မည် ဖြစ်ကြောင်း ဤ အာယတ်တော်တွင် မိန့်ဆို ထားတော်မူခြင်းပင် ဖြစ်သည်။

(၁) မွတ်စ်လင်မ်တို့၏ လက်နက်အင်အား စုဆောင်းမှုနှင့် စစ်ရန်ပုံငွေ ထည့်ဝင်လှူဒါန်းမှုများကို ကာဖိရ်များ တွေ့မြင်ကြသောအခါတွင် စိုးရိမ်ကြောင့်ကြပြီး စစ်ပြေငြိမ်းရန် မေတ္တာရပ်ခံလာကြပေမည်။ ယင်းကဲ့သို့ စစ်ပြေငြိမ်းရန် မေတ္တာရပ်ခံသည့်အခါ တမန်တော်မြတ်အား စစ်ပြေငြိမ်းပိုင်ခွင့်ရှိသည့်အကြောင်း ဤအာယတ်တော် တွင် မိန့်ဆိုခွင့်ပြုထားတော်မူသည်။ အဘယ့်ကြောင့်ဆိုသော် "ဂျိဟာဒ်"၏ အဓိကရည်ရွယ်ချက်သည် သတ်ဖြတ်မှု မဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်ကို မြှင့်တင်ရန်နှင့် နှိပ်စက်ညှဉ်းပန်းမှုများကို ပပျောက်စေရန်သာ ဖြစ်သည်။ အကယ်၍ ထိုရည်ရွယ်ချက်ကို သတ်ဖြတ်မှုမရှိပဲ ရရှိပါက အကြောင်းမဲ့ တိုက်ခိုက်သတ်ဖြတ်ရန် အကြောင်းပင် အလျှင်းမရှိပေ။

وَإِنْ يُرِيدُوٓا أَنْ يَخْدَعُوكَ فَإِنَّ حَسْبَكَ اللَّهُ هُوَ الَّذِىٓ أَيَّدَكَ بِنَصْرِهِۦ وَبِالْمُؤْمِنِينَ ﴿٦٢﴾

၆၂။ သို့ရာတွင် အကယ်၍ ၎င်းတို့သည် အသင့်အား လိမ်လည်လှည့်ဖြားရန် ရည်စူးကြပါမူ ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် အသင့်အဖို့ လုံလောက်တော်မူပေသည်။ [၁] ထိုအရှင်မြတ်သည် ပင်လျှင် အသင့်အား မိမိအကူအညီဖြင့်လည်းကောင်း၊ "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့ဖြင့်လည်းကောင်း၊ အားပေးတော်မူခဲ့လေသတည်း။

وَأَلَّفَ بَيْنَ قُلُوبِهِمْ ۚ لَوْ أَنْفَقْتَ مَا فِى الْأَرْضِ جَمِيعًا مَّآ أَلَّفْتَ بَيْنَ قُلُوبِهِمْ وَلَٰكِنَّ اللَّهَ أَلَّفَ بَيْنَهُمْ ۚ إِنَّهُۥ عَزِيزٌ حَكِيمٌ ﴿٦٣﴾

၆၃။ ၎င်းပြင် ထိုအရှင်မြတ်သည် ထိုမုအ်မင်န် သက်ဝင်ယုံကြည်သူတို့၏ စိတ်နှလုံးများစပ်ကြားတွင် (သမဂ္ဂီဖြစ်စေခြင်းငှာ) ညီညွတ်စေတော်မူခဲ့လေသည်။ အကယ်၍ အသင်သည် ကမ္ဘာမြေ၌ ရှိသမျှ (ပစ္စည်း)အားလုံးကို သုံးစွဲသည့်တိုင်အောင်၊ ထိုသူတို့၏ စိတ်နှလုံးများစပ်ကြားဝယ် ညီညွတ်စေနိုင်မည် မဟုတ်ပေ။ သို့ရာတွင် အလ္လာဟ် အရှင်မြတ်သည် (မိမိတန်ခိုးတော်ဖြင့်) ၎င်းတို့၏စပ်ကြားတွင်(သမဂ္ဂီဖြစ်စေ၍) ညီညွတ်စေတော်မူခဲ့လေသည်။ [၂] မုချဧကန် ထိုအရှင်မြတ်သည် တန်ခိုးအာနုဘော်နှင့် ပြည့်စုံတော်မူသောအရှင်၊ နက်နဲသိမ်မွေ့သော ဉာဏ်အမြော်အမြင်နှင့် ပြည့်စုံတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) အကယ်၍ ကာဖိရ်များသည် စစ်ပြေငြိမ်းရန် စာချုပ်ချုပ်ဆိုပြီးနောက်မှ ကတိဖျက်လျှင်၊ လိမ်လည်လှည့်ဖြားလျှင် အသင်(နဗီ) မစိုးရိမ် မကြောင့်ကြလင့်။ အလ္လာဟ်အရှင်မြတ်သည် အသင့်အား ကူညီရန်အတွက် လုံလောက်တော်မူသည်။ ထိုအရှင်မြတ်သည် ထိုကာဖိရ်များ၏ လိမ်လည်လှည့်ဖြားမှုများကို အချည်းနှီးသာ ဖြစ်စေတော် မူမည်ဖြစ်သည်။ ထို အရှင်မြတ်သည် "ဗဒ်ရ်" စစ်ပွဲတွင် အကွယ်မှလည်း အကူအညီပေးတော်မူခဲ့သည်။ မျက်မြင် အားဖြင့်လည်း သက်စွန့် ကြိုးပမ်းခဲ့ကြသော မုအ်မင်န် အာဇာနည်များဖြင့် ကူညီတော်မူခဲ့လေသည်။

ဤအာယတ်တော် ကျရောက်လာပြီးသည့်နောက်ပိုင်းတွင် ကာဖိရ်များသည် တမန်တော်မြတ်အား လိမ်လည်လှည့်ဖြားနိုင်ခဲ့ကြသည် မရှိပေ။

ကြည့်-(မာဂျိဒီ)။ အ-၂၊ စ-၃၈၈၊ အအ-၉၃။ (ထာနဝီ)၊ အ-၄။ စ-၈၇။

၂ အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့၏ စိတ်နှလုံးများအတွင်းမှ မျိုးနွယ်စိတ်၊ အုပ်စုစိတ်၊ ဘာသာစိတ် . . . စသည့် ခွဲခြားမှု ကွဲပြားမှုများကို နှုတ်ပယ်ဖျက်သိမ်းပြီး အစ္စလာမ်သာသနာကို ထိန်းသိမ်းကာကွယ်စောင့်ရှောက်နိုင်ရန်အတွက် ၎င်းတို့အား တညီတညွတ်တည်း၊ တလုံးတစည်းတည်း၊ ဖြစ်စေတော်မူခဲ့လေသည်။ ဤသို့ စည်းလုံးညီညွတ်မှုမရှိပါက သာသနာတော်ကို စံနစ်တကျ ထိန်းသိမ်းကာကွယ်ရန်ကား မဖြစ်နိုင်ပေ။ ဤကဲ့သို့ အရေးကြီးသော အခြေအနေတွင် စည်းလုံးညီညွတ်စေတော်မူခဲ့သည့် ကျေးဇူးတော်ကို အထူးတလည် ထုတ်ဖော် မြွက်ဟတော်မူခြင်းကို ထောက်ရှုခြင်းအားဖြင့် စည်းလုံးညီညွတ်မှုသည် အဘယ်မျှ အရေးကြီးသည်၊ ကြီးမားသည်ကို ကောင်းစွာသိရှိနိုင်ပေသည်။ မာဂျိဒီ။ အ-၂၊ စ-၃၈၉၊ အအ-၉၄။

ဤအာယတ်တော်၏ အလိုသဘောကို ပိုမိုနားလည် သဘောပေါက်နိုင်ရန်အတွက် ကုရ်အာန် (၃း၁၀၂)ကိုပါ ပူးတွဲလေ့လာ ဆင်ခြင်ကြပါကုန်။

လူ့လောကတွင် အကွဲကွဲ အပြားပြား ဖြစ်နေသော လူသားတို့၏ စိတ်နှလုံးသား များကို စုစည်း၍ အချင်းချင်း သင့်မြတ်ချစ်ကြည် မြတ်နိုးအောင် ပြုလုပ်ခြင်းမှာ ခက်ခဲလှသော ကိစ္စတရပ်ပင်ဖြစ်ပေသည်။ အထူးသဖြင့် အချင်းချင်း နှစ်ပရိစ္ဆေဒ မြောက်မြားစွာက တိုက်ခိုက်လာခဲ့ကြသော စိတ်နှလုံးများတွင် ပြန်လည် သင့်မြတ်ချစ်ကြည်ရန် အကြောင်းပင် မရှိတော့သော သူများအား ပြန်လည် စုစည်းရန်မှာကား အခက်အခဲဆုံးပင် ဖြစ်ပေသည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ယင်းသို့သောသူတို့၏စပ်ကြား၌ပင် ပွင့်တော်မူခဲ့စေသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ၎င်းတို့အား သွန်သင်ဆုံးမတော်မူ၍ ၁၀/၁၂၊ နှစ်ခန့်ရှိသောအခါ မဒီနာမြို့တော်တွင် အုပ်စုတစု ပေါ်ထွက်လာခဲ့၏။ ထိုအုပ်စုသည် ထူးဆန်းလှဘိ၏။ ၎င်းတို့သည် အစ္စလာမ်အတွင်းသို့ ရောက်ရှိမလာမီအထိ အချင်းချင်း မလိုမုန်းတီးကာ ရန်ပွားနေခဲ့ကြ၏။ အစ္စလာမ်ဘာသာအတွင်းသို့ ကူးပြောင်းလာခဲ့ကြသည့်အခါ ၎င်းတို့၏အခြေအနေမှာ အံ့ဖွယ်သရဲ ပြောင်းလဲလာခဲ့၏။ တချိန်က အချင်းချင်း သတ်ဖြတ်နေခဲ့ကြသောသူတို့သည် ယခုမူ တဦးကိုတဦး အသက်ပေး၍ပင် ချစ်ကြည်မြတ်နိုးလာခဲ့ကြ၏။ ဤသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လာမ်)၏ စာရိတ္တပြုပြင်ပေးမှု၏ အကျိုးပင်။ ဤသည့်အကြောင်းကိုပင် ဤအာယတ်တော်တွင် ရည်ညွှန်း မိန့်ဆိုထားတော်မူ၏။

ဤသည်ကို ထောက်ရှုခြင်းအားဖြင့် မွတ်စ်လင်မ်တို့၏ အချင်းချင်း ချစ်ကြည်မှုသည် အလ္လာဟ်အရှင်မြတ်၏ ထူးကဲမြင့်မြတ်လှသော ကျေးဇူးတော်တပါးဖြစ်ကြောင်း ကောင်းစွာသိရှိရပေသည်။ ယနေ့ မွတ်စ်လင်မ်များသည် အချင်းချင်း ချစ်ကြည်ရမည့်အစား ခိုက်ရန်ဖြစ်ပွားလျက်ရှိကြ၏။ ခိုက်ရန်ဖြစ်ပွားမှုသည် မွတ်စ်လင်မ်တို့၏ အကြီးဆုံးသောလက္ခဏာတရပ်ပင် ဖြစ်ရှိနေသည်။ မွတ်စ်လင်မ်များသည်လည်း ဤသည့် အချင်းချင်း ချစ်ကြည်မှုတည်းဟူသော ကျေးဇူးတော်နှင့်ကင်းဝေးခြင်းကြီးမက ကင်းဝေးနေကြရသည်ကိုပင် ရောင့်ရဲ တင်းတိမ်လျက် ရှိနေကြကုန်၏။ မွတ်စ်လင်မ်တို့၏ အခြေအနေကား ပြောင်းပြန်ဖြစ်နေဘိတကား။ ဤကား ဝမ်းနည်းဖွယ်ရာပင်။ အဗုလ်ကလာမ်အာဇာဒ်။ အ-၂။ စ-၆၉-၇၀။

"စလ်မာန်ဖာရစီ" (ရဒွေ့ယလ္လာဟုတအာလာအန်ဟု)သခင်ထံမှ ကြားသိရ၏။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) မိန့်ကြားတော်မူခဲ့သည်မှာ "မွတ်စ်လင်မ် တဦးသည် မိမိ၏ညီနောင်တဦးနှင့်တွေ့ဆုံ၍ လက်ဆွဲနှုတ်ဆက်သည့်အခါ ၎င်းတို့နှစ်ဦး၏ အပြစ်များသည် သမုဒ္ဒရာပင်လယ်၏ ရေမြှုပ်တမျှ များပြားလင့်ကစား လေပူလေကြမ်း တိုက်ခိုက်သောနေ့တွင် ခြောက်သွေ့နေသောသစ်ပင်မှ သစ်ရွက်များ ကြွေကျသွားဘိသည့် အလား၊ ကြွေကျသွားလေသည်။" အီဗ်နုကဆီရ်။ အ-၂။ စ-၃၂၃/၃၂၄။

يا أيها النبي حسبك الله ومن اتبعك من المؤمنين ﴿٦٤﴾

၆၄။ အို-နဗီတမန်တော် အသင်၏အဖို့ အလ္လာဟ်
အရှင်မြတ်သည်လည်းကောင်း၊ အသင်၏နောက်သို့
လိုက်ကြကုန်သော "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့
သည်လည်းကောင်း၊ လုံလောက်ကြပေသတည်း။ ①

يا أيها النبي حرض المؤمنين على القتال ۚ إن يكن منكم عشرون صابرون يغلبوا مائتين ۚ وإن يكن منكم مائة يغلبوا ألفا من الذين كفروا بأنهم قوم لا يفقهون ﴿٦٥﴾

၆၅။ အို-နဗီတမန်တော်၊ အသင်သည် 'မုအ်မင်န်'
သက်ဝင်ယုံကြည်သူတို့အား *စစ်မက်ပြိုင်ဆိုင် တိုက်
ခိုက်ခြင်း၌ တိုက်တွန်းနှိုးဆော်ပါလေ။* ② အကယ်
၍ အသင်တို့အနက် စွဲမြဲကြံ့ခိုင်(စွာတိုက်ခိုက်မည့်)
သူ နှစ်ဆယ်ရှိကြပါမူ၊ ၎င်းတို့သည် (ကာဖိရ်တို့ဘက်
မှ လူ)နှစ်ရာကို နှိမ်နင်းနိုင်ကြကုန်အံ့၊ ထိုနည်းတူစွာ
အကယ်၍ အသင်တို့အနက် (ကြံ့ခိုင်စွာတိုက်ခိုက်
မည့်သူ)တရာရှိကြလျှင် ၎င်းတို့သည် ကာဖိရ်သွေဖည်
ငြင်းပယ်သောသူတို့အနက်မှ (လူ)တထောင်ကိုနှိမ်နင်း
နိုင်ကြပေအံ့။ အကြောင်းမူကား ၎င်းတို့သည် (လုံး၀)
နားမလည်သောသူများ ဖြစ်ကြသောကြောင့်ပင်။

---

① ဤအာယတ်တော်၏ အဓိပ္ပာယ်ကို မုဖတ်စ်စစ်ရ် ပညာရှင်သုခမိန်များသည် နှစ်မျိုးနှစ်စားပြန်ဆိုကြသည်။ တမျိုးမှာ အထက်တွင် ရေးသားဖော်ပြထားသည့်အတိုင်းပင် ဖြစ်သည်။ ဤသို့ ဘာသာပြန်ဆိုခြင်းမှာ ကုရ်အာန် (၈:၆၂)၏ အဆုံးတွင်ပါရှိသည့် ( هو الذي أيدك بنصره وبالمؤمنين ) ဟူသော အာယတ်တော်ကို ထောက်ထား၍ ပြန်ဆိုခြင်းပင်ဖြစ်သည်။ အချို့ပညာရှင်များက "အို-နဗီတမန်တော်၊ အလ္လာဟ်အရှင်မြတ်သည် အသင့်အဖို့လည်းကောင်း၊ အသင်၏ နောက်လိုက်ဖြစ်ကြကုန်သော မုအ်မင်န်များအဖို့လည်းကောင်း၊ လုံလောက်တော်မူသည်" ဟူ၍ ဘာသာပြန်ဆိုကြသည်။ ဤသည်အတိတ်ခေတ်ရှိ ပညာရှင် သုခမိန်အများစု၏ ပြန်ဆိုချက်ပင် ဖြစ်သည်။

② ဤအာယတ်တော်တွင် မွတ်စလင်မ်တို့အား 'ဂျိဟာဒ်' စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ရန် တိုက်တွန်းနှိုးဆော်ထားတော်မူသည်။ မွတ်စ်လင်မ်သည်များသည် ဦးရေအားဖြင့် နည်းနေသော်လည်း စိတ်အားမလျော့ကြရာ။ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်အဟုန်ဖြင့် မွတ်စ်လင်မ်စစ်သည်များသည် မိမိထက်ဆယ်ဆ ပိုမိုများသော ရန်သူများကိုပင် အောင်နိုင်ကြမည်ဖြစ်သည်။ အကြောင်းကား မွတ်စ်လင်မ်များသည် အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ နှစ်သက်လိုလားတော်မူခြင်းကို နားလည်ပြီး တိုက်ခိုက်ကြသည်။ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ သေဆုံးရခြင်းသည် အသက်ရှင်ခြင်း၏အဓိကပင် ဖြစ်သည်ဟု ယုံကြည်ကာ စစ်မြေပြင်တွင် ခြေချကြသည်။ မွတ်စ်လင်မ်များသည် မိမိတို့၏ သက်စွန့်ကြိုးပမ်းစွန့်စားမှုများ၏ ကုသိုလ်အကျိုးကို စစ်မြေပြင်တွင် နိုင်သည်ဖြစ်စေ၊ ရှုံးသည်ဖြစ်စေ၊ နောင်တမလွန်ဘဝ၌ မုချရရှိကြမည်ဟု ယုံကြည်ကြသည်။ ➢➢

اَلْـٰٔنَ خَفَّفَ اللّٰهُ عَنْكُمْ وَعَلِمَ اَنَّ فِيْكُمْ ضَعْفًا ۭ فَاِنْ يَّكُنْ مِّنْكُمْ مِّائَةٌ صَابِرَةٌ يَّغْلِبُوْا مِائَتَيْنِ ۚ وَاِنْ يَّكُنْ مِّنْكُمْ اَلْفٌ يَّغْلِبُوْٓا اَلْفَيْنِ بِاِذْنِ اللّٰهِ ۭ وَاللّٰهُ مَعَ الصّٰبِرِيْنَ ۝٦٦

၆၆။ ယခုသော်ကား အလ္လာဟ်အရှင်မြတ်သည် (အသင်တို့၏ဝန်ထုပ်ကို) အသင်တို့မှ ပေါ့ပါးစေတော်မူခဲ့ပေပြီ။ ၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့၌ *အားအင်သတ္တိ နည်းပါးသည်ကိုလည်း သိရှိတော်မူလေပြီ။* [၁] သို့ဖြစ်ပေရာ အကယ်၍ အသင်တို့အနက် စွဲမြဲ(စွာတိုက်ခိုက်မည့်)သူ (၁၀၀) တရာရှိကြပါလျှင် ၎င်းတို့သည် (ရန်သူတို့ဘက်မှလူ) နှစ်ရာကို နှိမ်နင်းနိုင်ကြပေမည်။ ထိုနည်းတူစွာ အကယ်၍ အသင်တို့အနက် (စွဲမြဲစွာတိုက်ခိုက်မည့်သူ) (၁၀၀၀)တထောင်ရှိခဲ့မူ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်နှင့် (ရန်သူတို့ဘက်မှလူ) (၂၀၀၀) နှစ်ထောင်ကို နှိမ်နင်း နိုင်ကြပေမည်။ အမှန် စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည် စွဲမြဲကြံ့ခိုင်သူတို့နှင့် အတူရှိတော် မူချေသတည်း။

➤➤ အလ္လာဟ်အရှင်မြတ်၏ တရားဒေသနာတော်များ ထွန်းကားစေရန်အတွက် ဆင်းရဲဒုက္ခခံခြင်းသည် အမှန်စင်စစ် ထာဝရသုခရရှိရန် အကြောင်းပင်ဖြစ်သည်ဟု ယုံကြည်ကြသည်။ ဤသို့သော ယုံကြည်ချက်များဖြင့် မွတ်စ်လင်မ်များသည် ရန်သူများနှင့် စစ်တိုက်ကြသောအခါ အလ္လာဟ်အရှင်မြတ်၏ ကူညီစောင့်ရှောက်တော်မူခြင်းကို ရရှိကြပေသည်။ သေရမည့်ဘေးကိုလည်း အနည်းငယ်စိုးစဉ်းမျှ မစိုးရိမ်ကြပေ။ ထို့အတွက်ကြောင့်ပင် မွတ်စ်လင်မ်စစ်သည်တော်များသည် တုန်လှုပ်ချောက်ခြားခြင်း အလျှင်းမရှိပဲ ရဲရင့်စွာ တိုက်ခိုက်ကြပေသည်။ ကာဖိရ်များမှာမူ ဤသို့မဟုတ်ကြပေ။ ၎င်းတို့သည် ဤသည့်သဘောတရားများကို သိနားလည်ကြသည်မဟုတ်ပေ။ ထို့အတွက်ကြောင့် ၎င်းတို့သည် သေးသိမ်သော မမြဲသော လောကီအကျိုးများအတွက်သာ တိရစ္ဆာန်များပမာ တိုက်ခိုက်ကြပေသည်။ စိတ်ဓာတ်ကြံ့ခိုင်မှုလည်း မရှိကြပေ။ ၎င်းတို့သည် ကာဖိရ်များဖြစ်ကြသည့်အတွက် အကွယ်မှ အလ္လာဟ်အရှင်မြတ်၏ အကူအညီ အထောက်အမများကိုလည်း မရရှိကြပေ။

ထို့အတွက်ကြောင့် ဤအာယတ်တော်တွင် သတင်းစကားအနေဖြင့်လည်းကောင်း၊ ကောင်းချီးသြဘာစကားအနေဖြင့်လည်းကောင်း၊ "မွတ်စ်လင်မ်စစ်သည်များသည် မိမိတို့ထက် ဆယ်ဆများသော ကာဖိရ်ရန်သူများနှင့်ပင် ကြံ့ခိုင်တည်ကြည်စွာ တိုက်ခိုက်ကြရမည်။ အကယ်၍ မွတ်စ်လင်မ်စစ်သည် (၂၀)ရှိလျှင် ရန်သူစစ်သည် (၂၀၀)ကိုပင် ကျောမပေးကြရ။ မွတ်စ်လင်မ်စစ်သည် (၁၀၀)ဖြစ်လျှင် ရန်သူစစ်သည် (၁၀၀၀)ကိုပင် ကျောမပေးကြရ" ဟု မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

(၁) ဗုခါရီကျမ်းတွင် အစ်နအဗ်ဗားစ်(ရဒွေ့ယလ္လာဟုတအာလာအန်ဟု)ထံမှ တဆင့်ကြားသိရသည်မှာ ကုရ်အာန် (၈:၆၅)တွင် မွတ်စ်လင်မ်စစ်သည်များသည် မိမိတို့ထက်ဆယ်ဆရှိသောရန်သူများနှင့် ပြိုင်ဆိုင်တိုက်ခိုက် ➤➤

➤➤ ရမည့်အကြောင်း အမိန့်တော်လာရှိ၏။ ထိုအမိန့်တော်နှင့်စပ်လျဉ်း၍ မွတ်စ်လင်မ်များသည် တာဝန်ကြီးလေးလှသည်ဟု ယူဆကြသည့်အခါ အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်(၈း၆၆)ကို ထုတ်ပြန်ချမှတ်ပေးတော်မူလေသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် အသင် (မွတ်စ်လင်မ်)တို့၏ အားနည်းမှု၊ လေးလံမှု၊ ဖင့်နွဲ့မှု၊ စိတ်ဓာတ်ကျဆင်းမှုများကိုသိတော်မူသဖြင့် ပထမအမိန့်တော်ကို ရုပ်သိမ်းတော်မူလိုက်လေသည်။ ယခုမှအသင်တို့သည် မိမိတို့ထက် နှစ်ဆရှိသောရန်သူများနှင့် ပြိုင်ဆိုင်တိုက်ခိုက်ကြရမည် ဖြစ်သည်။ မိမိတို့ထက် နှစ်ဆရှိသော ရန်သူများကို ကျောပေးထွက်ပြေး အရှုံးမပေးကြရာ၊ ဤသည်ပင်ဟရာမ်ဖြစ်သည်။

ဤကဲ့သို့ တာဝန်ကို လျှော့ပေးတော်မူခြင်း၏ အကြောင်းကား၊ 'ဟစ်ဂျ်ရတ်' စတင်ပြုလုပ်ကြသည့် အချိန်တွင် မွတ်စ်လင်မ်များမှာ အနည်းငယ်မျှသာ ရှိခဲ့ကြသေး၏ ၎င်းတို့၏ အင်အားမှာလည်း မပြောပလောက်သေးပေ။ ထို့နောက် အတန်ကြာသောအခါ ၎င်းတို့အနက် များစွာသောသူများသည် သက်ရွယ်ကြီးရင့် အိုမင်းမစွမ်းဖြစ်လာခဲ့ကြ၏။ အားအင်ဆုတ်ယုတ်ခဲ့ကြကုန်၏။

ထို့နောက် ၎င်းတို့မှ ပေါက်ပွားလာခဲ့ကြသော သားသမီးများတွင် ယခင် 'အန်ဆွာရ်' နှင့် "မုဟာဂျီရီန်" များ၌ ရှိခဲ့သော အမြော်အမြင်၊ ကြံ့ခိုင်မှု၊ စွန့်စားမှု၊ အရည်အချင်း၊ ယုံပုံလွှဲအပ်မှုများသည် မရှိပေ။ ထို့ပြင်တဝလူဦးရေ များပြားလာခဲ့ကြသည့်အတွက် ၎င်းတို့တွင် တနည်းအားဖြင့် မိမိတို့၏ များပြားမှုကို အားထားမှုဖြစ်ပေါ်လာခဲ့၏။ အလ္လာဟ်အရှင်မြတ်အား ယုံပုံလွှဲအပ်မှုသည် လျော့ပါးလာခဲ့၏။ လူ့သဘာဝအလျောက် ကြီးလေးသည့် တာဝန်တရပ်ရပ်ကို ထမ်းဆောင်ရန် လူတစုအပေါ်၌ တာဝန်ကျရောက် လာသည့်အခါ ထိုလူတစုသည် စိတ်အားထက်သန်စွာဖြင့် ထမ်းဆောင်လေ့ရှိကြသည်။ လူတိုင်းလူတိုင်းသည် မိမိတက်စွမ်းနိုင်သည်ထက် ပိုမိုကြိုးပမ်းအားထုတ်လေ့ရှိသည်။ သို့ရာတွင် ထိုကြီးလေးသော တာဝန်တရပ်သည်ပင် များစွာသောသူများအပေါ်၌ ကျရောက်လာသောအခါ လူများသည် သူလုပ်နိုးနိုး၊ ကိုယ်လုပ်နိုးနိုးနှင့် တယောက်ကို တယောက် စောင့်စားနေလေ့ရှိကြသည်။ "ဤသည် ငါတယောက်တည်း၏ တာဝန်မဟုတ်" ဟု ယူဆကာ အမှုမဲ့အမှတ်မဲ့ လျစ်လျူရှုလေ့ရှိကြသည်။ ဤကဲ့သို့ အသီးသီး ထင်မြင်ယူဆကာ တဦးကိုတဦး လွှဲပုံချလာသည်နှင့် အမျှ စိတ်ဓာတ်၊ လုပ်အား၊ ဖွဲ့သတ္တိများသည်လည်း အလိုအလျောက် ကျဆင်းလျော့နည်းလာလေသည်။ ဤသည့်သဘောကိုပင် ဤအာယတ်တော်တွင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

ဤအာယတ်တော်နှင့်စပ်လျဉ်း၍ ရာဟ်အဗ်ဒုလ်ကာဒစ်ရ်သခင်ကြီးက ရှင်းလင်းပြခဲ့သည်မှာ ပထမ မွတ်စ်လင်မ်များသည် 'အီမာန်' ယုံကြည်ခြင်း သဒ္ဓါတရား၌ ပြည့်စုံရင့်ကျက်ခဲ့ကြပေရာ ၎င်းတို့အား မိမိတို့၏ ဆယ်ဆရှိသော ရန်သူများနှင့်ပင် တိုက်ခိုက်ရန် အမိန့်တော်ထားရှိတော်မူခြင်း ဖြစ်သည်။ နောက်မွတ်စ်လင်မ်များသည် ပထမမွတ်စ်လင်မ်များထက် ခြေတလှမ်း နောက်ကျနေကြသည့်အတွက် ၎င်းတို့အား မိမိတို့၏ နှစ်ဆရှိသော ရန်သူများနှင့်သာ ပြိုင်ဆိုင်တိုက်ခိုက်ရန် အမိန့်တော်ထားရှိတော်မူခြင်းဖြစ်သည်"။

ဤအမိန့်တော်သည် ယခုထက်တိုင် အတည်ဖြစ်နေတော်မူ၏။ သို့ရာတွင် နှစ်ဆထက် ပိုမိုများပြားသောရန်သူများကို တိုက်ခိုက်နိုင်ကြမှသာ ကြီးမားသော ကုသိုလ်အကျိုးကို ရရှိကြမည်ဖြစ်သည်။

တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ လက်ထက်တော်တွင် မွတ်စ်လင်မ်စစ်သည် (၁၀၀၀)တထောင်သည် ရန်သူစစ်သည် (၈၀၀၀၀)ရှစ်သောင်းနှင့် ပြိုင်ဆိုင်တိုက်ခိုက်နိုင်ခဲ့ကြပေသည်။

"မောင်ဝ်တာ" စစ်ပွဲတွင် မွတ်စ်လင်မ်စစ်သည် (၃၀၀၀)သုံးထောင်သည် ရန်သူစစ်သည် (၂၀၀၀၀၀) နှစ်သိန်းနှင့် ရင်ဆိုင်နိုင်ခဲ့ကြပေသည်။ အစ္စလာမ့်သမိုင်းတွင် ဤကဲ့သို့သော စွန့်စားတိုက်ခိုက်မှုများကို အများအပြားတွင် တွေ့ရှိရပေသည်။

مَا كَانَ لِنَبِيٍّ أَن يَكُونَ لَهُۥٓ أَسْرَىٰ حَتَّىٰ يُثْخِنَ فِى ٱلْأَرْضِ ۚ تُرِيدُونَ عَرَضَ ٱلدُّنْيَا وَٱللَّهُ يُرِيدُ ٱلْـَٔاخِرَةَ ۗ وَٱللَّهُ عَزِيزٌ حَكِيمٌ ﴿٦٧﴾

၆၇။ မည်သည့်နဗီတမန်တော်မဆို ကမ္ဘာမြေပြင်ဝယ် (ကောင်းစွာ) တိုက်ခိုက်သတ်ဖြတ်အောင်မြင်မှုကို မပြုသေးသမျှ ကာလပတ်လုံး ထိုနဗီတမန်တော်၌ (စစ်မြေအရပ်မှ) လက်ရဖမ်းဆီး၍ မိခဲ့သောသုံ့ပန်းများသည်မရှိသင့်ပေ။ အသင်တို့သည် ပစ္စုပ္ပန်လောကီပစ္စည်းကိုအလိုရှိကြ၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် (အသင်တို့အဖို့) *နောင်တမလွန်ဘဝ(၏စည်းစိမ်ရိပ်ငြိမ်)ကို လိုလားတော်မူ၏။* [၁] စင်စစ် အလ္လာဟ်အရှင်မြတ်သည် တန်ခိုးအာနုဘော်နှင့် ပြည့်စုံတော်မူသောအရှင်၊ နက်နဲသိမ်မွေ့ ဉာဏ်အမြော်အမြင်နှင့် ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

---

(၁) 'ဗဒ်ရ်' စစ်မြေပြင်တွင် မွတ်စ်လင်မ် စစ်သည်တော်များသည် ကာဖိရ်စစ်သည် (၇၀)ကို သုံ့ပန်းအဖြစ် ဖမ်းဆီးရမိခဲ့ကြ၏။ အလ္လာဟ်အရှင်မြတ်သည် ထိုသုံ့ပန်းများနှင့်ပတ်သက်၍ မွတ်စ်လင်မ်တို့အား ရွေးချယ်ကျင့်သုံးနိုင်ကြရန်အတွက် လမ်းစဉ်နှစ်ရပ်ကို ချပေးတော်မူခဲ့၏။ (၁)သတ်ဖြတ်ကွပ်မျက်ခြင်း၊ သို့မဟုတ် (၂)လျော်ကြေးယူ၍လွှတ်ခြင်း၊ လျော်ကြေးယူ၍ လွှတ်ကြလျှင် လာမည့်နှစ်၌ အလွှတ်ခံရသော ရန်သူသုံ့ပန်းဦးရေနှင့်အမျှ မွတ်စ်လင်မ်များ အသတ်ခံကြရမည်ဖြစ်သည်ဟူသော စည်းကမ်းချက်ကို သတ်မှတ်ထားတော်မူသည်။

အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ မွတ်စ်လင်မ်တို့အား အထက်ဖော်ပြပါ လမ်းစဉ်နှစ်ရပ်ကို ရွေးချယ်စေတော်မူခြင်းမှာ မွတ်စ်လင်မ်တို့သည် မိမိတို့ စိတ်အာသာဆန္ဒအလျောက် လမ်းစဉ်နှစ်ရပ်အနက် မည်သည့်လမ်းစဉ်ဘက်သို့ ယိမ်းကြသည်ကို သိရှိတော်မူရန်အတွက် စမ်းသပ်တော်မူခြင်းသာဖြစ်သည်။ (ဥပမာ- တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ကြင်ရာတော်များကိုလည်း လမ်းစဉ်နှစ်ရပ်အနက် မိမိတို့ ကြိုက်နှစ်သက်ရာ လမ်းစဉ်တရပ်ကို ရွေးချယ်ကြရန် ခွင့်ပြုတော်မူခဲ့၏။ ဤအကြောင်း ကုရ်အာန်(၃၃း၂၈-၂၉)တွင် လာရှိသည်။ ထို့အတူ "မိအ်ရာဂျ်" ညတွင်လည်း တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား နို့ရည်တခွက်နှင့် သေရည်တခွက်ဆက်သရာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် နို့ရည်ကို ရွေးချယ်တော်မူခဲ့၏။ ထိုအခါ ကောင်းကင်တမန် 'ဂျိဗရီလ်' က တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား "အကယ်၍သာ (မပြောကောင်းမဆိုအပ်) တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် သေရည်တခွက်ကို ရွေးချယ်တော်မူခဲ့သည်ရှိသော် တမန်တော်မြတ်၏ နောက်လိုက်တပည့်သားတို့သည် လမ်းမှားသွားကြမည်" ဟု လျှောက်ထားခဲ့၏။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဗဒ်ရ်စစ်မြေပြင်မှ ဖမ်းဆီးရမိခဲ့သော သုံ့ပန်းများနှင့်ပတ်သက်၍ မိမိ၏ 'ဆွဟာဗဟ်' တပည့်သာဝကကြီးများထံမှ အကြံဉာဏ် တောင်းတော်မူခဲ့လေသည်။ ထိုအခါ သာဝကကြီး အဗူဗက်ရ် ဆွစ်ဒ်ဒီက်(ရဿေ့ယလ္လာဟို့ တအာလာအန်ဟု)က "အို-အလ္လာဟ် ➤➤

➤➤ အရှင်မြတ်၏ ရစူလ်၊ ဤသုံ့ပန်းအားလုံးတို့သည် ကျွန်ုပ်တို့၏ သားချင်းများ၊ ညီနောင်များဖြစ်ကြပါသည်။ ၎င်းတို့အား လျော်ကြေးယူ၍လွှတ်ရန် သင့်ပါသည်။" ဤသို့သိမ်မွေ့စွာဆက်ဆံ၍ ကျေးဇူးပြုလိုက်လျှင် နောင်တချိန် ၎င်းတို့အနက် အချို့သည် မွတ်စ်လင်မ်ဖြစ်လာကြပြီး ၎င်းတို့နှင့်တကွ ၎င်းတို့၏သားသမီးများ၊ နောက်လိုက်တပည့်များသည် ကျွန်ုပ်တို့၏လက်ရုံးများဖြစ်လာနိုင်ကြပါသည်။ ထို့ပြင်တဝ ၎င်းတို့ထံမှ ရရှိမည်ဖြစ်သော လျော်ကြေးများသည်လည်း ဂျိဟာဒ်နှင့်အခြား သာသနာရေးကိစ္စများတွင် အသုံးဝင်နိုင်ပါသည်။

နောက်နှစ် ကျွန်တော်များအနက် မွတ်စ်လင်မ် (၇၀)သည် သာသနာ့အရေး၌ ရှဟီဒ်အဖြစ် ကျဆုံးသွားခဲ့ကြသည်ရှိသော အထူးနစ်နာစရာမရှိပါ။ ၎င်းတို့သည် "ရှဟီဒ်-သာသနာ့ အာဇာနည်" ဟူသောဂုဏ်ကို မုချရရှိကြမည်ဖြစ်ပါသည်" ဟု ဖြေကြားလျှောက်ထားလေသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည်လည်း မူလဗီဇအားဖြင့် သနားကြင်နာလေ့၊ သားချင်းတို့အား ထောက်ထားညှာတာလေ့ရှိတော်မူသည့်အတွက် သာဝကကြီးအဗူဗက်ရ်၏ အကြံဉာဏ်ကိုပင် နှစ်သက်တော်မူခဲ့လေသည်။ ထို့ပြင်တဝ သာဝကကြီးများ၏ အကြံဉာဏ်များမှာလည်း အများအားဖြင့် ဤသို့ပင်ဖြစ်ခဲ့လေသည်။

များစွာသော သာဝကကြီးများသည် သာဝကကြီးအဗူဗက်ရ် တင်ပြခဲ့သည့် အထက်ပါ အကြောင်းပြချက်များ (ဝါ) သားချင်းဖြစ်မှု၊ နောင်တချိန် ဖြစ်ထွန်းလာမည့်အကျိုးနှင့် ဥစ္စာပစ္စည်းကြောင့် လက်ရှိသုံ့ပန်းများအားလျော်ကြေးယူ၍ လွှတ်ရန်ပင် အကြံပေးခဲ့ကြလေသည်။ အချို့ သာဝကများသည် ဥစ္စာပစ္စည်းကို ရှေ့ရှု၍ ဤသည့်အကြံဉာဏ်ကို နှစ်သက်ကြခြင်းဖြစ်သည်။ (ကုရ်အာန်ကျမ်းလာ "အသင်တို့သည် ဤပစ္စက္ခ လောကီပစ္စည်းကို အလိုရှိကြသည်" ဟူသော အာယတ်တော်သည်လည်း သာဝကကြီးများအနက် ဤကဲ့သို့ လောကီစည်းစိမ်ကို နှစ်သက်လိုလားခဲ့ကြသော သာဝကကြီးများအား ရည်ညွှန်းထားတော်မူသည်။ ဟာဖိဇ် အစ်ဗ်နအလ်ဟဂျရ်နှင့် အစ်ဗ်နအလ်ကိုင်ယင်မ် တို့ကလည်း ဤအတိုင်းပင် ဖွင့်ဆိုရေးသားထားခဲ့ကြသည်။ သို့ရာတွင် သာဝကကြီးအုမ်ရ်(ရဿေ့ယလ္လာဟိုတအာလာအန်ဟု)နှင့် သာဝကကြီးစအိဒ်အစ်ဗ်နမုအာဇ် (ရဿေ့ယလ္လာဟိုတအာလာအန်ဟု)တို့သည် အထက်ဖော်ပြပါအကြံကို ဆန့်ကျင်ခဲ့ကြလေသည်။

သာဝကကြီး အုမရ် (ရဿေ့ယလ္လာဟိုတအလာအန်ဟု)က တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား "အို-အလ္လာဟ်အရှင်မြတ်၏ ရစူလ်၊ ဤသုံ့ပန်းများသည် ကာဖိရ်များ၏ ရှေ့ဆောင်များ၊ မုရှ်ရစ်က်များတို့၏ အကြီးအကဲများဖြစ်ကြပါသည်။ ဤသူများကို သတ်ဖြတ်ကွပ်မျက်လိုက်ပါလျှင် ကာဖိရ် မုရှ်ရစ်က်တို့၏ ဇက်သည်ကျိုးသွားပါလိမ့်မည်။ ကာဖိရ်၊ မုရှ်ရစ်က်အားလုံးတို့အပေါ်၌ ကျွန်ုပ်တို့၏ အရှိန်အဝါသည်လည်း လွှမ်းမိုး၍ သွားပါလိမ့်မည်။ နောက်နောင် ကာဖိရ်၊ မုရှ်ရစ်က်တို့သည် မွတ်စ်လင်မ်တို့အား ညှဉ်းပန်းခြင်း၊ အလ္လာဟ်အရှင်မြတ်၏လမ်းတော်မှ ပိတ်ပင်တားဆီးခြင်းများကို ပြုဝံ့ကြမည် မဟုတ်ပါ။ ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင် ကျွန်တော်များသည် ကာဖိရ်၊ မုရှ်ရစ်က်တို့အား လွန်စွာစက်ဆုပ်ရွံရှာခဲ့ကြောင်း၊ ၎င်းတို့နှင့်မည်သို့မျှ မပတ်သက်ခဲ့ကြောင်း၊ ကျွန်တော်များသည် အလ္လာဟ်အရှင်မြတ်၏လမ်းတော်တွင် မိမိတို့၏ သားချင်းများနှင့် ဥစ္စာပစ္စည်းများကို အလျင်းဂရုမပြုခဲ့ကြောင်း ထင်ရှားပေါ်လွင် သွားပါလိမ့်မည်။ ထို့အတွက်ကြောင့် ဤသုံ့ပန်းများတွင် ကျွန်တော်များအနက် သားချင်းတော်စပ်သူများအား ကျွန်တော်များအနက် ၎င်းတို့၏ သားချင်းများကပင် မိမိတို့ကိုယ်တိုင် သတ်ဖြတ်ကွပ်မျက်ကြရန် သင့်ပါသည်" ဟု လျှောက်ထားခဲ့လေသည်။

ဤ သုံ့ပန်းများနှင့် ပတ်သက်၍ အမျိုးမျိုးအဖုံဖုံ ဝေဖန်စဉ်းစားကြပြီးနောက် နောက်ဆုံးတွင် အများဆန္ဒအရ သာဝကကြီး အဗူဗက်ရ် (ရဿေ့ယလ္လာဟုတအာလာအန်ဟု)၏ အကြံပေးချက်အတိုင်း လိုက်နာကျင့်သုံးရန် ဆုံးဖြတ်ခဲ့ကြလေသည်။ အဘယ်ကြောင့်ဆိုသော် သာဝကကြီးများအနက် အများစုကြီး၏ ➤➤

➤➤ အကြံပေးချက်မှာလည်း ဤအတိုင်းပင်ဖြစ်သည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ကိုယ်တော်တိုင်သည်လည်း မိမိ၏မူလဗီဇအလျောက် သနားကြင်နာ ကရုဏာပွားများလေ့ရှိသည့်အတွက် ဤသည့်အကြံပေးချက်ကိုပင် နှစ်သက်တော်မူခဲ့လေသည်။ ၎င်းပြင် ယဉ်ကျေးသိမ်မွေ့မှုကို ထောက်ထားခြင်းအားဖြင့်လည်းကောင်း၊ ကိစ္စအရပ်ရပ်ကို ထောက်ထားခြင်းအားဖြင့်လည်းကောင်း၊ ဤသည့်အကြံပေးချက်သည် လျော်ကန်သင့်မြတ်သည်ဟူ၍ပင် ယူဆဖွယ်ရာဖြစ်သည်။

သို့ရာတွင် ထိုခေတ်ထိုအခါ ထိုပတ်ဝန်းကျင်၌ မွတ်စ်လင်မ်များ ရင်ဆိုင်နေကြရသော အခြေအနေများကို စေ့စေ့ငုငု ထောက်ရှုဆင်ခြင်သည်ရှိသော် ထိုပတ်ဝန်းကျင် တွင် ကာဖိရ်များကို တိုက်ခိုက်ရာ၌ ပြင်းပြင်းထန်ထန် တိုက်ခိုက်ခါ ဦးခေါင်းမမော်နိုင်အောင် ပြုလုပ်ရပေမည်။ မွတ်စ်လင်မ်တို့အား (၁၃)နှစ်တိုင်တိုင် နှိပ်စက်ညှဉ်းပန်းခဲ့ကြသော ကာဖိရ်တို့အား ၎င်းတို့၏ ဆွေမျိုးတော်စပ်မှု၊ ဥစ္စာပစ္စည်း၊ စစ်သည်အင်အား စသည်များသည် ၎င်းတို့အား အလ္လာဟ်အရှင်မြတ်၏ တုံ့ပြန်လက်စားချေမှုမှ စိုးစဉ်းမျှ မကာကွယ်နိုင်သည်ကို ထုတ်ဖော်ပြသရန်အတွက် ဤအခွင့်အလမ်းသည် ပထမဆုံးသော အခွင့်အလမ်းပင် ဖြစ်ပေသည်။ ထိုသို့သော ကာဖိရ်၊ မုရှိရစ်က်များအပေါ်တွင် ဦးစွာပထမ မိမိတို့၏ အရှိန်အဝါကို တကြိမ် လွှမ်းမိုးစေသင့်ပေသည်။ ယင်းသို့ တကြိမ် အရှိန်အဝါ လွှမ်းမိုးစေပြီးသည့်နောက်ပိုင်းတွင် နူးညံ့သိမ်မွေ့စွာဆက်ဆံရန်၊ သားချင်းတို့အား ထောက်ထားညှာတာရန်အတွက် အခွင့်အလမ်းများ၊ အချိန်များ အမြောက်အမြား ကျန်ရှိနေပေသေးသည်။ လာမည့်နှစ်တွင် မွတ်စ်လင်မ် (၇၀)သွေးမြေကျရမည့်အရေးကို သဘောတူလိုက်ခြင်းသည် သာမန်ကိစ္စတရပ် မဟုတ်ပေ။

ထို့အတွက်ကြောင့် သုံ့ပန်းများအား လျော်ကြေးယူ၍လွှတ်ရန် အကြံပေးချက်ကို အလ္လာဟ်အရှင်မြတ်သည် ထိုခေတ်ထိုအခါ ထိုပတ်ဝန်းကျင်အရ မနှစ်သက် မလိုလားတော်မူခြင်း ဖြစ်ပေသည်။

ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် ဤမနှစ်သက် မလိုလားတော်မူခြင်းကိုပင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။ 'လက်ရသုံ့ပန်းများနှင့်ပတ်သက်၍ သာဝကကြီးများ၏ ထင်မြင်ယူဆချက်သည် အလွန်စိုးရိမ်ဖွယ်ကောင်းသည့် မှားယွင်းချက်တရပ်ဖြစ်သည်' ဟူ၍ မိန့်ဆိုထားတော်မူသည်။ သာဝကကြီးများအနက် ဥစ္စာပစ္စည်းကို နှစ်သက်၍ အထက်ဖော်ပြပါ အကြံပေးချက်ကို ထောက်ခံခဲ့ကြသော အချို့သာဝကကြီးများအား "အသင်တို့သည် ဤပစ္စက္ခဘဝ၏ ဥစ္စာပစ္စည်းကို နှစ်သက်လိုလားကြသည်" ဟူ၍ အတည့်အလင်း ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

ဆိုလိုသည်ကား အသင်တို့သည် ဤပစ္စက္ခဘဝ၏ သင်္ခါရပစ္စည်းများကို ရွေးရှုကြသည်။ အမှန်မှာ မုအ်မင်န်များသည် နောင်တမလွန်ကိုသာ ရွေးရှုသင့်ပေသည်။ အလ္လာဟ်အရှင်မြတ် အလိုတော်ရှိတော် မူပါလျှင် အသင်တို့၏အလုပ်ကို မိမိ၏ အနန္တတန်ခိုးတော်ဖြင့် မျက်မြင်အကြောင်းတရားများ မပါပဲလျက်လည်း ပြုစွမ်းပေးတော်မူနိုင်သည်။ အသို့ပင်ဖြစ်စေကာမူ လျော်ကြေးယူ၍ သုံ့ပန်းများကို လွှတ်ခြင်းသည် ထိုခေတ်ထိုအခါ ထိုပတ်ဝန်းကျင်၌ ကြီးလေးလှသော မှားယွင်းချက်တရပ် ဖြစ်ပေသည်။

ဤနေရာတွင် သိရှိနားလည်ထားအပ်သည်မှာ "ရိဝါယာတ်" ခေါ် ကျမ်းချက်များအရ အဆိုပါ အကြံပေးချက်ကို တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) နှစ်သက်တော်မူခဲ့ခြင်းမှာ သားချင်းများအား ထောက်ထားလေးစားမှု၊ သနားကြင်နာမှုများကြောင့် သာလျှင် ဖြစ်ခဲ့ပေသည်။ သာဝကကြီးများအနက် အချို့မှာမူ ဥစ္စာပစ္စည်းများကိုသာ ရှေ့ရှု၍ အဆိုပါ အကြံပေးချက်ကို နှစ်သက်ခဲ့ကြပေသည်။ သာဝကကြီးများအနက် အများစုကြီးမှာမူကား သာသနာရေးဆိုင်ရာ အကျိုးတရား၊ ယဉ်ကျေးသိမ်မွေ့မှု၊ ထောက်ထားအပ်သော အကြောင်းတရားနှင့် ဥစ္စာပစ္စည်းကိုပါ ရှေးရှုကာ အဆိုပါအကြံပေးချက်ကို နှစ်သက်ခဲ့ကြပေသည်။ ➤➤

لَوۡلَا كِتَٰبٞ مِّنَ ٱللَّهِ سَبَقَ لَمَسَّكُمۡ فِيمَآ أَخَذۡتُمۡ عَذَابٌ عَظِيمٞ ٦٨

၆၈။ အကယ်၍သာ အလ္လာဟ်အရှင်မြတ် အထံတော်မှ ဥပဒေတရပ်သည်မူလကပင်မရှိခဲ့ပါမူ အသင်တို့ ယူငင်ခဲ့ကြသည်နှင့် စပ်လျဉ်း၍ ကြီးကျယ်(ပြင်းထန်)သောပြစ်ဒဏ်သည် အသင်တို့၌ ဧကန်မလွဲ ထိရောက်ခဲ့ပြီး ဖြစ်ချေသတည်း။ ၁

---

➤➤ အချုပ်အားဖြင့် သာဝကကြီးများ၏ အကြံပေးချက်တွင် အားလုံးကို ခြုံ၍ဖြစ်စေ၊ သို့တည်းမဟုတ် တစိတ်တဒေသအားဖြင့်ဖြစ်စေ၊ တနည်းတဖုံ ဥစ္စာပစ္စည်းကို ရှေးရှုခဲ့ကြသည်မှာ အမှန်ပင်ဖြစ်နေပေသည်။ ဥစ္စာပစ္စည်းကို ရှေးရှုခြင်းမှာ မည်သည့်အဆင့်အတန်း၌ပင် ဖြစ်စေကာမူ "အလ္လာဟ်အရှင်မြတ်အတွက်သာ ချစ်ခြင်း၊ အလ္လာဟ်အရှင်မြတ်အတွက်သာ မုန်းခြင်း" ဟူသော ဩဝါဒတော်တွင် ပေါ့လျော့ခြင်း၊ ဂျိဟာဒ်၏ ရည်ရွယ်ချက်ကို မေ့လျော့ခြင်း၊ မွတ်စ်လင်မ်စစ်သည် (၇၀)သွေးမြေကျမည့်အရေးကို သဘောတူခြင်းများသည် သာဝကကြီးများကဲ့သို့သော ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်တို့၏ ဂုဏ်သိက္ခာနှင့် ဆန့်ကျင်လျက်ရှိပေသည်။ ထို့အတွက်ကြောင့်ပင် ဤအာယတ်တော်များတွင် အလ္လာဟ်အရှင်မြတ်သည် ပြင်းပြင်းထန်ထန် ဝေဖန်ပြစ်တင်ထားတော်မူခြင်းဖြစ်သည်။

ဟဒီစ်တော်များတွင် ဤသို့လာရှိ၏။ စစ်ပွဲတပွဲတွင် ပုဂ္ဂိုလ်တဦး၏ ဦးခေါင်း၌ ဒဏ်ရာရရှိသွား၏။ ထိုသူ၌ ရေချိုးရန်အကြောင်းသည်လည်း ကြုံကြိုက်လာ၏။ ဦးခေါင်းပေါ်တွင် ရေအသုံးပြုခြင်းသည်လည်း အန္တရာယ်ကြီးမားလှ၏။ ထိုအခါ ထိုပုဂ္ဂိုလ်သည် မိမိ၏မိတ်ဆွေများအား ရေသုံးသင့် မသုံးသင့် မေးမြန်းရာ မိတ်ဆွေများက "ရေရှိနေပါလျက် အသင့်အဖို့ အခြားအခွင့်အလမ်းကို ကျွန်ုပ်တို့မမြင်ကြပါ" ဟု ပြောဆိုကြလေသည်။ ထိုအခါ ထိုသူသည် ရေချိုးလိုက်၏။ ထို့နောက် ထိုသူ သေဆုံးသွားလေသည်။ ဤသည့်အကြောင်းကို တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) သိရှိတော်မူသည့်အခါ တမန်တော်မြတ်က "ထိုသူများသည် ထိုသူ့ကို သတ်ခဲ့ကြသည်။ ထိုသူများကို အလ္လာဟ်အရှင်မြတ် သတ်တော်မူပါစေ" ဟု မိန့်တော်မူလေသည်။ ဤသည့် အချက်အလက်ကို ထောက်ရှုခြင်းအားဖြင့် 'အစ်ဂျ်တိဟာဒ်' ပြုလုပ်ရာတွင် မှားယွင်းမှုသည် ထင်ရှား၍ စိုးရိမ်ဖွယ်ရာဖြစ်လျှင် ယင်းသို့မှားယွင်းသော အစ်ဂျ်တိဟာဒ် ပြုလုပ်ခြင်းအပေါ်တွင် အပြစ်ဒဏ် သက်ရောက်နိုင်ပေသည်။ တနည်းအားဖြင့်ဆိုသော် ယင်းသို့ အစ်ဂျ်တိဟာဒ်ပြုလုပ်ရာတွင် "မုဂျ်တဟိဒ်" သည် အစ်ဂျ်တိဟာဒ် ပြုလုပ်ရာ၌ မိမိ၏အင်အားများကို အသုံးပြုရာတွင် ပေါ့လျော့ခဲ့ခြင်းကြောင့်သာ ဤသို့ စိုးရိမ်ဖွယ်ရာ အထင်အရှား မှားယွင်းခြင်း ဖြစ်သည်ဟူ၏။

(၁) ဗဒ်ရ်စစ်ပွဲတွင် ဖမ်းဆီးရမိခဲ့သော စစ်သုံ့ပန်းများနှင့်ပတ်သက်၍ လောကီဥစ္စာပစ္စည်းကို ရှေးရှုပြီး လျော်ကြေးယူ၍ ထိုစစ်သုံ့ပန်းများကို လွှတ်ရန်အကြံပေးခဲ့ကြသော ပုဂ္ဂိုလ်များ၏ အပြစ်ကားကြီးမားလှသဖြင့် ၎င်းတို့သည် ကြီးလေးသော အပြစ်ဒဏ်ခတ်တော်မူခြင်းကို ခံသင့်ခဲ့ကြပေသည်။ သို့ရာတွင် ၎င်းတို့ထံ ပြစ်ဒဏ်သက်ရောက်ခြင်းမှ တားဆီးလျက်ရှိသောအရာမှာ ရှေးမဆွက အလ္လာဟ်အရှင်မြတ် ရေးမှတ် ပြဋ္ဌာန်းထားတော်မူပြီးဖြစ်သောအရာပင် ဖြစ်သည်။ ထိုအရာသည် အမျိုးမျိုး ဖြစ်နိုင်ပေသည်။

က။ 'မုဂျ်တဟိဒ်' အား ဤကဲ့သို့ 'အစ်ဂျ်တိဟာဒ်' ပြုလုပ်ရာတွင် မှားယွင်းသည့်အပေါ်၌ ပြစ်ဒဏ် သက်ရောက်မည် မဟုတ်။



➤➤ခ။ အလ္လာဟ်အရှင်မြတ်မှ အရာတခုနှင့် စပ်လျဉ်း၍ အမိန့်ပေးခြင်း၊ တားမြစ်ခြင်းအားဖြင့် အတိအလင်း အမိန့်တော်မထုတ်ပြန်သမျှ ကာလပတ်လုံး ထိုအရာကို ပြုလုပ်သူအား ပြစ်ဒဏ်ပေးတော်မမူ။

ဂ။ အလ္လာဟ်အရှင်မြတ်သည် ဗဒ်ရ်စစ်ပွဲတွင် ပါဝင်ဆင်နွှဲခဲ့ကြသော မွတ်စ်လင်မ်စစ်သည်တော်တို့၏ အပြစ်များကို ခွင့်လွှတ်တော်မူပြီးဖြစ်သည်။

ဃ။ အချိန်မကျရောက်မီ မှားယွင်း၍ လမ်းစဉ်တရပ်ကို ရွေးချယ်လိုက်ခြင်း။ (ဝါ) လျော်ကြေးယူ၍ စစ်သုံ့ပန်းများကို လွှတ်ခြင်းသည် အလ္လာဟ်အရှင်မြတ်၏ အကြွင်းမဲ့သိတော်မူသော ဉာဏ်တော်၌ ပြဋ္ဌာန်းပြီးရှိတော်မူခဲ့သည်မှာ နောင်တချိန်တွင်ယင်းကဲ့သို့ လျော်ကြေးယူ၍ လွှတ်ရန်အခွင့်သည် ရရှိသွားမည်ဖြစ်သည်။ ကုရ်အာန်(၄၇:၄)တွင် ( فَإِمَّا مَنًّا بَعْدُ وَإِمَّا فِدَاءً ) ဟူ၍ အခွင့်ပြုထားတော်မူသည့် အကြောင်းလာရှိသည်။

င။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ၎င်းတို့အတွင်း ရှိနေသမျှ ကာလပတ်လုံး သို့တည်းမဟုတ် လူများသည် မှန်ကန်သော စိတ်စေတနာဖြင့် အပြစ်မှ ချမ်းသာရရန် လျှောက်ထား ပန်ကြားနေသမျှကာလပတ်လုံး ပြစ်ဒဏ်သက်ရောက်မည် မဟုတ်။ ဤသည်လည်း ပြဋ္ဌာန်းပြီးပင် ဖြစ်သည်။

စ။ ဤသုံ့ပန်းများအနက် မြောက်မြားစွာတို့သည် အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ကြမည်ဖြစ်ကြောင်း ၎င်းတို့၏ 'ကစ္စမတ်' ဝေစု၌ ရေးမှတ်တော်မူပြီးဖြစ်သည်။

အချုပ်အားဖြင့် ပြစ်ဒဏ်သက်ရောက်ခြင်းကို တားဆီးသည့် အထက်ဖော်ပြပါ အကြောင်းများသာ မရှိခဲ့ပါမူ လျော်ကြေးယူ၍ လွှတ်ခဲ့ခြင်း၏ အပြစ်မှာ အလွန်ကြီးမားလှသဖြင့် ယင်းသို့လျော်ကြေးယူ၍ လွှတ်ခဲ့ကြသော ပုဂ္ဂိုလ်များအပေါ်တွင် ကြီးလေးသောပြစ်ဒဏ် သက်ရောက်ပေမည်။

အဆိုပါ မှားယွင်းမှုနှင့်စပ်လျဉ်း၍ သတိပေးထားတော်မူသည်ကို လေးနက်သည်ထက် လေးနက်စေရန် အတွက် ထိုသို့သောမှားယွင်းမှုအပေါ်၌ သက်ရောက်နိုင်သည့် ပြစ်ဒဏ်ကို ဖန်ဆင်းတော်မူ၍ တမန်တော်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား အလွန်နီးကပ်စွာ ပြသတော်မူခဲ့လေရာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ထိုပြစ်ဒဏ်ကို ရှုမြင်၍ ငိုကြွေးတော်မူခဲ့လေသည်။

သာဝကြီးအုမရ်က ငိုကြွေးတော်မူသည့် အကြောင်းကို လျှောက်ထားမေးမြန်းရာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က "လျော်ကြေးယူ၍ လွှတ်သည့် အပြစ်အတွက် ၎င်းတို့ထံ အထက်ဖော်ပြပါ အကြောင်းများမရှိခဲ့ပါမူ သက်ရောက်နိုင်သည့်ပြစ်ဒဏ်ကို ကျွန်ုပ်အားပြသတော်မူသည်" ဟူ၍ ဖြေကြားတော်မူလေသည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ဤကဲ့သို့ ပြစ်ဒဏ်ကို ဖန်ဆင်းပြသတော်မူခြင်းမှာ 'ဆွလာတုလ်ကုစူဖ်' ဝတ်ပြုနေတော်မူစဉ် 'ဂျန္နတ်နှင့် 'ဂျဟန္နမ်' ကို ကစ်ဗ်လဟ်ဘက်၌ ဖန်ဆင်းပြသတော်မူခြင်း မျိုးပင်ဖြစ်သည်။ (ဝါ)သက်ရောက်နိုင်သည့် ပြစ်ဒဏ်ကို ဖန်ဆင်းပြသတော်မူခြင်းသာဖြစ်သည်။

အလ္လာဟ်အရှင်မြတ်၏ ဥပဒေတရပ်မှာ "အစ်ဂျ်တိဟာဒ်" ပြုလုပ်ရာတွင် မှားယွင်းမှုအပေါ်၌ ပြစ်ဒဏ် မထားတော် မူခြင်းပင် ဖြစ်သည်။ အကယ်၍သာ ဤဥပဒေမှာ ယခင်က မရှိခဲ့ပါမူ "ဗဒ်ရ်" စစ်ပွဲမှ ဖမ်းဆီး ရမိခဲ့ကြသော စစ်သုံ့ပန်း များနှင့် ပတ်သက်၍ မွတ်စ်လင်မ်တို့၏ မှားယွင်းမှုကား မသေးငယ်လှပေ။

فَكُلُوا مِمَّا غَنِمْتُمْ حَلَٰلًا طَيِّبًا ۚ وَاتَّقُوا اللَّهَ ۚ إِنَّ اللَّهَ غَفُورٌ رَّحِيمٌ ٦٩

၆၉။ ယခုမူ အသင်တို့သည် (၎င်းတို့ထံမှ လက်ရပစ္စည်းအဖြစ်) မိမိတို့ရယူခဲ့ကြသည်များကို တရားဝင်သော သန့်စင်သော *ပစ္စည်းများအဖြစ် စားသုံးကြလေကုန်။*[1] ၎င်းပြင် အသင်တို့သည် အလ္လာဟ် အရှင်မြတ်အားသာ ကြောက်ရွံ့ကြလေကုန်။ ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်တော်မူသော အရှင်၊ အလွန်တရာ သနားကြင်နာ ညှာတာတော် မူသောအရှင် ဖြစ်တော်မူပေသတည်း။

يَٰٓأَيُّهَا النَّبِيُّ قُل لِّمَن فِىٓ أَيْدِيكُم مِّنَ الْأَسْرَىٰٓ إِن يَعْلَمِ اللَّهُ فِى قُلُوبِكُمْ خَيْرًا يُؤْتِكُمْ خَيْرًا مِّمَّآ أُخِذَ مِنكُمْ وَيَغْفِرْ لَكُمْ ۗ وَاللَّهُ غَفُورٌ رَّحِيمٌ ٧٠

၇၀။ အိုနဗီတမန်တော်၊ အသင်သည် မိမိတို့၏ လက်တွင်း၌ရှိကုန်သော လက်ရဖမ်းဆီးမိသည့် သုံ့ပန်းများကို (ဤသို့)ပြောကြားပါလေ။ "အလ္လာဟ် အရှင်မြတ်သည် အသင်တို့၏ စိတ်နှလုံးများတွင် တစုံတရာကောင်းခြင်းကို အကယ်၍ သိရှိတော်မူပါလျှင်၊ ထိုအရှင်မြတ်သည် (ယခု)အသင်တို့ထံမှယူခဲ့ပြီးဖြစ်သော (လျော်ကြေး) ပစ္စည်းထက် သာလွန်မြင့်မြတ်သောအရာကို အသင်တို့အားချီးမြှင့်ပေးသနားတော်မူအံ့။ ထိုအရှင်မြတ်သည် အသင်တို့အား (အပြစ်များမှ) ချမ်းသာခွင့်လည်းပေးသနားတော်မူအံ့။[2] စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသောအရှင်၊ ဖြစ်တော်မူသည်။

(၁) ကုရ်အာန်ကျမ်းမြတ်(၈း၆၈)တွင် လျော်ကြေးယူပြီး သုံ့ပန်းများ လွှတ်ခဲ့ကြသည့်အတွက် အလ္လာဟ်အရှင်မြတ်၏ ကဲ့ရဲ့ပြစ်တင် ကြိမ်းမောင်းတော်မူခြင်းကို ခံခဲ့ကြရသဖြင့် မွတ်စ်လင်မ်များသည် လက်ရပစ္စည်း သုံ့ပန်းစသည်များကို လက်ခံယူရန် အကြောက်ကြီး ကြောက်သွားခဲ့ကြပေသည်။ ယခု ဤအာယတ်တော်တွင် ယင်းလက်ရပစ္စည်း၊ သုံ့ပန်းစသည်များသည် အလ္လာဟ်အရှင်မြတ် ချီးမြှင့်ပေးသနားတော်မူသော ဆုလာဘ်များဖြစ်သဖြင့် ကြည်ဖြူစွာ စားသုံးနိုင်ကြောင်း၊ သို့ရာတွင် 'ဂျိဟာဒ်' ၏ မြင့်မြတ်သော ရည်ရွယ်ချက်များမှ တိမ်းစောင်းကာ ➤➤

وَإِنْ يُرِيدُوا خِيَانَتَكَ فَقَدْ خَانُوا اللَّهَ مِنْ قَبْلُ فَأَمْكَنَ مِنْهُمْ وَاللَّهُ عَلِيمٌ حَكِيمٌ ﴿٧١﴾

၇၁။ သို့ရာတွင် ၎င်းတို့သည် အကယ်၍ အသင့်အား သစ္စာဖောက်ရန် ရည်စူးကြပါလျှင် ဧကန်စင်စစ် ၎င်းတို့သည် ယခင်က အလ္လာဟ်အရှင်မြတ်ကိုပင် သစ္စာဖောက်ခဲ့ကြချေပြီ။

---

➢➢ လောကီဥစ္စာပစ္စည်းများကိုမူ အဓိက မထားသင့်ကြောင်း၊ ချိန်ခါမရွေး အလ္လာဟ်အရှင်မြတ်ကိုသာ ကြောက်ရွံ့ရိုသေ ခန့်ညားကြရမည့် အကြောင်းမိန့်ဆိုထားတော်မူသည်။

အလ္လာဟ်အရှင်မြတ်သည် အလွန်တရာမျှ ခွင့်လွှတ်တော်မူသော အရှင်ဖြစ်တော်မူသည့်အတွက်၊ အသင်တို့၏ မှားယွင်းချက်ကို ခွင့်လွှတ်တော်မူလိုက်သည်။ ထိုအရှင်မြတ်သည် အလွန်တရာမျှ သနားကြင်နာညှာတာတော်မူသောအရှင် ဖြစ်တော်မူသည့်အလျှောက် သုံ့ပန်းများထံမှရရှိသော လျော်ကြေးများကို 'ဟလာလ်' တရားဝင်သော၊ 'တွိုင်ယစ်ဗ်' သန့်စင်သောပစ္စည်းအဖြစ် သတ်မှတ်ပြဋ္ဌာန်းပေးတော်မူလိုက်လေသည်။

"အသင်တို့ သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားကြကုန်လော့" ဟူသော အာယတ်တော်နှင့်အညီ အသင်တို့သည်လည်း နောက်နောင် အရေးကိစ္စအဝဝတွင် အထူးတလည် စဉ်းစားဆင်ခြင်ကြရပေမည်။ မာဂျိဒီ။ အ-၂၊ စ-၃၉၀၊ အအ-၁၀၂၊

(၂) ဤအာယတ်တော်တွင် "ခိုင်ရ်" ကောင်းခြင်းဟူသည် အီမာန်ယုံကြည်ခြင်း၏ ဖြူစင်မှု၊ စေတနာ၏မှန်ကန်မှုကို ဆိုလိုသည်။ မဒါရစ်က်။

ဤ အာယတ်တော်တွင် "ခိုင်ရ်" ဟူသည် အီမာန် ယုံကြည်မှုနှင့် စိတ်စေတနာ ဖြူစင်မှုကို ဆိုလိုသည်။

ဗဒ်ရ်စစ်ပွဲမှ မွတ်စ်လင်မ်တို့၏ လက်တွင်းသို့ သုံ့ပန်းအဖြစ် ဖမ်းဆီးခြင်းခံခဲ့ရသော သုံ့ပန်းများအနက် အချို့တို့သည် အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်လာခဲ့ပေသည်။ ဥပမာ အဗ်ဗားစ်(ရဒွေ့ယလ္လာဟို တအာလာအန်ဟု)သခင်နှင့် အခြားပုဂ္ဂိုလ်များ။

ဤအာယတ်တော်နှင့်စပ်လျဉ်း၍ သာဝကကြီးအလီ(ရဒွေ့ယလ္လာဟို တအာလာအန်ဟု)သခင်က သာဝကကြီး အစ်ဗ်နအဗ်ဗားစ်(ရဒွေ့ယလ္လာဟို တအာလာအန်ဟု) သခင်မှတဆင့် ပြောပြသည်- အဗ်ဗားစ် (ရဒွေ့ယလ္လာဟို တအာလာအန်ဟု)သည် ဗဒ်ရ်စစ်ပွဲတွင်သုံ့ပန်းအဖြစ် ဖမ်းဆီးခြင်းခံခဲ့ရပေရာ မိမိကိုယ်ကို လျော်ကြေး ရွှေအောင်စ(၄၀)ပေး၍ လွတ်မြောက်ခဲ့လေသည်။ ထို့နောက် ဤအာယတ်တော်ကို ရွတ်ဖတ်၍ ကြားနာရသည့်အခါ အဗ်ဗားစ်(ရဒွေ့ ယလ္လာဟို တအာလာအန်ဟု)က "အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်အား ဂုဏ်နှစ်ရပ်ကို ချီးမြှင့်တော်မူသည်။ ထိုဂုဏ်နှစ်ရပ်၏အစား ကမ္ဘာအဝှန်းကို ကျွန်ုပ်ရရှိသော်လည်း ကျွန်ုပ်မနှစ်သက်ပါ။ ကျွန်ုပ်သည် ဗဒ်ရ်စစ်ပွဲတွင် သုံ့ပန်းအဖြစ် ဖမ်းဆီးခြင်းခံခဲ့ရသဖြင့် ကျွန်ုပ်သည် မိမိကိုယ်ကို ရွှေအောင်စ(၄၀) လျော်ကြေးပေး၍ လွတ်မြောက်ခဲ့သည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်အား ကျေးကျွန်(၄၀)ကို ပေးသနားတော်မူလေသည်။ ၎င်းပြင် ယခုကျွန်ုပ်သည် ကျွန်ုပ်အား အလ္လာဟ်အရှင်မြတ်က ကတိပြုထားတော်မူသော လွတ်ငြိမ်းချမ်းသာခွင့်ကိုသာ မျှော်မှန်းတောင့်တလျက် ရှိပါသည်။"ဟု ပြောကြားခဲ့လေသည်။ အီဗ်နကဆီရ်။ အ -၂။ စ -၃၂၇/ ၃၂၈။

သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် (အသင့်အား) *ငင်းတို့ကိုဖမ်းဆီးနိုင်စေတော်မူခဲ့လေသည်။* [၁] စင်စစ်မူကား အလ္လာဟ်အရှင်မြတ်သည် အကြွင်းမဲ့ သိတော်မူသောအရှင်၊ နက်နဲသိမ်မွေ့သော ဉာဏ်အမြော်အမြင်နှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

إِنَّ ٱلَّذِينَ ءَامَنُوا۟ وَهَاجَرُوا۟ وَجَٰهَدُوا۟ بِأَمْوَٰلِهِمْ وَأَنفُسِهِمْ فِى سَبِيلِ ٱللَّهِ وَٱلَّذِينَ ءَاوَوا۟ وَّنَصَرُوٓا۟ أُو۟لَٰٓئِكَ بَعْضُهُمْ أَوْلِيَآءُ بَعْضٍ ۚ وَٱلَّذِينَ ءَامَنُوا۟ وَلَمْ يُهَاجِرُوا۟ مَا لَكُم مِّن وَلَٰيَتِهِم مِّن شَىْءٍ حَتَّىٰ يُهَاجِرُوا۟

၇၂။ ဧကန်စင်စစ် အကြင်သူတို့သည် 'အီမာန်' သက်ဝင်ယုံကြည်ခဲ့ကြကုန်၏၊ ငင်းပြင် ထိုသူတို့သည် (မိမိတို့၏အိုးအိမ်စည်းစိမ်တို့ကို စွန့်လွှတ်ကာ) 'ဟစ်ဂျ်ရတ်' ရွှေ့ပြောင်းနေထိုင်ခဲ့ကြကုန်၏။ ထိုမှတပါး ယင်းတို့သည် မိမိတို့၏ ဥစ္စာပစ္စည်းများဖြင့်လည်းကောင်း၊ မိမိတို့၏အသက်ဇီဝိန်များဖြင့်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခဲ့ကြကုန်၏။ (ထိုသူတို့သည် 'မုဟာဂျိရီန်' မည်၏)။ ငင်းပြင် အကြင်သူတို့သည် ခိုကိုးရန်နေရာများ ပေးခဲ့ကြကုန်၏။ ထို့ပြင် ငင်းတို့သည် ယိုင်းပင်းကူညီခဲ့ကြကုန်၏။ (ထိုသူတို့သည် 'အန်ဆွာရ်' မည်၏)။ ထိုသူတို့ကား အချင်းချင်း တဦးသည်တဦး၏ အမွေစားအမွေခံများပင် ဖြစ်ကြကုန်သည်။

---

(၁) အကယ်၍ ထိုသုံ့ပန်းများ၏ စိတ်စေတနာမဖြူစင်လျှင် (ဝါ) အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ခြင်းမှာ တမန်တော်မြတ်အား သစ္စာဖောက်ရန်၊ လိမ်လည်လှည့်ဖြားရန် ကြံရွယ်လျှင်လည်း စိုးရိမ်ဖွယ်ရာ မဟုတ်ပေ။ ငင်းတို့သည် ယခင်ကလည်း သစ္စာဖောက်ခဲ့ဘူးကြသည်။ လိမ်လည် လှည့်ဖြားခဲ့ဘူးကြသည့်အတွက် ငင်းတို့သည် ယခင်ကလည်း တမန်တော်မြတ် လက်တွင်းသို့ သုံ့ပန်းအဖြစ် ရောက်ရှိခဲ့ကြပေပြီ။ ယခုတဖန် သစ္စာဖောက်ပြန်လျှင်လည်း ယခင်အတိုင်းပင် ဖြစ်ကြရပေမည်။ ကြည့် -ဂျလာလိုင်န် စ၊၁၅၂။

ဆိုလိုသည်ကား ဗဒ်ရ်စစ်ပွဲတွင် အသင်(နဗီ) တွေ့မြင်ခဲ့သည့်အတိုင်း ငင်းတို့အပေါ်တွင် အသင့်အား ထိုအရှင်မြတ်သည် အနိုင်ပေးတော်မူခဲ့လေသည်။ (ရှုဟ်)။

وَإِنِ اسْتَنصَرُوكُمْ فِي الدِّينِ فَعَلَيْكُمُ النَّصْرُ إِلَّا عَلَىٰ قَوْمٍ بَيْنَكُمْ وَبَيْنَهُم مِّيثَاقٌ ۗ وَاللَّهُ بِمَا تَعْمَلُونَ بَصِيرٌ ﴿٧٢﴾

သို့ရာတွင် အကြင်သူတို့မူကား သက်ဝင်ယုံကြည်ခဲ့ကြကုန်၏။ သို့တစေလည်း ၎င်းတို့သည် 'ဟစ်ဂျ်ရတ်' (မိမိတို့၏အိုးအိမ်စည်းစိမ်တို့ကိုစွန့်၍) ရွှေ့ပြောင်းနေထိုင်ခြင်း မပြုခဲ့ကြချေ။ ထိုသူတို့သည် ရွှေ့ပြောင်းနေထိုင်ခြင်းမပြုသမျှကာလပတ်လုံး အသင်တို့၌ *၎င်းတို့၏အမွေဆက်ခံခြင်းသည် လုံးဝမရှိချေ၊*[၁] သို့သော်ငြားလည်း အကယ်၍ ထိုသူတို့သည် 'ဒီန်' သာသနာရေးနှင့်စပ်လျဉ်း၍ အသင်တို့ထံမှ အကူအညီ ရလိုကြပါလျှင် အသင်တို့နှင့် ပဋိညာဉ်စာချုပ်ချုပ်ဆိုပြီးဖြစ်သော လူမျိုးမှတပါး အခြားလူမျိုးနှင့် ဆန့်ကျင်၍ (၎င်းတို့အား) *ကူညီ ယိုင်းပင်းရန် အသင်တို့၌ တာဝန်ရှိပေသည်။*[၂] စင်စစ်တမူကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ပြုမူသမျှတို့ကို အကြွင်းမဲ့ မြင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) အစ္စလာမ်သာသနာ ထွန်းကားခါစ အချိန်တွင် 'ဟစ်ဂျ်ရတ်' သည် 'အီမာန်' ယုံကြည်မှုအတွက် မုချရှိအပ်သော အင်္ဂါတရပ်ဖြစ်ခဲ့ပေသည်။ ဒါရုလ်ဟရ်ဗ်၌ နေထိုင်လျက်ရှိသော မွတ်စ်လင်မ်များသည် ဟစ်ဂျ်ရတ်မပြုလုပ်ကြသမျှ ကာလပတ်လုံး မုဟာဂျိရီန်များတွင် အပါအဝင် မဖြစ်နိုင်ကြပါပေ။ ဟစ်ဂျ်ရတ် ပြုလုပ်လိုက်ကြသည့် အခါတွင်မှ မုဟာဂျိရီန်များတွင် အပါအဝင် ဖြစ်သွားကြပေမည်။

မက္ကာမြို့တော်ကို အောင်နိုင်ပြီးသည့် နောက်ပိုင်းတွင် ဟစ်ဂျ်ရတ်ပြုခြင်းသည် ဝါဂျိဗ်ဖရည်သွ် မဟုတ်တော့ပေ။ သို့တစေလည်း ဒါရုလ်ကုဖ်ရ်မှ ဟစ်ဂျ်ရတ်ပြုလုပ်ခြင်းသည် အမြဲတစေ ကောင်းမြတ်သည်။ ကြီးမားသော ကုသိုလ်အကျိုးကို ဖြစ်ထွန်းစေသည်။ ကြည့်မာဂျိဒီ။ အ-၂၊ စ-၃၉၁၊ အအ-၁၀၈၊

(၂) "ဗဒ်ရ်" စစ်ပွဲမှ ဖမ်းဆီးရမိသော သုံ့ပန်းများတွင် အချို့သုံ့ပန်းများသည် အတွင်းစိတ်ဓာတ်အားဖြင့် မွတ်စ်လင်မ်များ ဖြစ်နေခဲ့ကြသော်လည်း တမန်တော်မြတ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)နှင့် အတူတကွ မက္ကာမြို့မှ ဟစ်ဂျ်ရတ် မပြုလုပ်နိုင်ခဲ့ကြပေ။ ထို့ပြင်တဝ ၎င်းတို့သည် စိတ်မပါပဲလျက် မလွှဲမရှောင်သာ၍ ကာဖိရ်များနှင့်အတူ ဗဒ်ရ်စစ်ပွဲသို့ လိုက်ပါလာခဲ့ကြရလေသည်။ ဤအာယတ်တော်တွင် ဤသို့သော မွတ်စ်လင်မ် များနှင့် ပတ်သက်၍ မည်သို့မည်ပုံ ဆက်ဆံရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

ဤအကြောင်းနှင့်ပတ်သက်၍ ရာဟ်အဗ်ဒုလ်ကာဒိရ်သခင်က ဖွင့်ဆိုရေးသားထားသည်မှာ တမန်တော်မြတ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)၏ 'ဆွဟာဗဟ်' တပည့်သာဝကကြီးများသည် နှစ်မျိုးနှစ်စား ရှိခဲ့ကြသည်။ (၁) မုဟာဂျိရီန်။ (၂) အန်ဆွာရ်။



وَالَّذِينَ كَفَرُوا بَعْضُهُمْ أَوْلِيَاءُ بَعْضٍ ۚ إِلَّا تَفْعَلُوهُ تَكُن فِتْنَةٌ

၇၃။ ၎င်းပြင် "ကာဖိရ်" မယုံမကြည် သွေဖည်ငြင်းပယ်သော သူတို့သည် အချင်းချင်း တဦးသည် တဦး၏ အမွေစားအမွေခံများပင် ဖြစ်ကြကုန်၏။

---

➤➤ 'မုဟာဂျိရီန်' ဟူသည် ဆွေမျိုးသားချင်းနှင့် အိုးအိမ်ကို စွန့်လွှတ်ခဲ့ကြသော သာဝကကြီးများကိုဆိုသည်။

'အန်ဆွာရ်' ဟူသည် နေရာထိုင်ခင်းပေးခဲ့ကြသော ကူညီယိုင်းပင်ခဲ့ကြသော သာဝကကြီးများကို ဆိုသည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လာမ်)သည် ထိုမုဟာဂျိရီန်နှင့် အန်ဆွာရ်များ စပ်ကြားတွင် 'မုဝါခါးတ်' ညီနောင်ဖွဲ့ပေးတော်မူခဲ့လေသည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် အတူတကွနေထိုင်ကြသော (မုဟာဂျိရီန်။ အန်ဆွာရ်) မွတ်စ်လင်မ်များ၏စစ်တိုက်ခြင်း၊ စစ်ပြေငြိမ်းခြင်းသည် တခုတည်း၊ တသံတည်း၊ တညီတညွတ်တည်း ဖြစ်သည်။ တဦး၏မိတ်ဆွေသည် အားလုံး၏မိတ်ဆွေဖြစ်သည်။ တဦး၏ရန်သူသည် အားလုံး၏ရန်သူဖြစ်သည်။ ဤမျှမက ဟစ်ဂျိရတ်၏ ပထမအချိန်ပိုင်းတွင် အထက်ဖော်ပြပါ 'မုဝါခါးတ်' ညီနောင်ဖွဲ့ဆိုမှုကို အကြောင်းပြု၍ မုဟာဂျိရီန်နှင့် အန်ဆွာရ်များသည် အချင်းချင်း အမွေစားအမွေခံများပင် ဖြစ်ခဲ့ကြလေသည်။

သို့ရာတွင် အကြင်မွတ်စ်လင်မ်များသည် မိမိတို့တိုင်းပြည်၌ နေထိုင်လျက်ရှိကြ၏။ ထိုတိုင်းပြည်တွင် ကာဖိရ်များ ကြီးစိုးလျက်ရှိကြ၏။ (တနည်း) အဆိုပါမွတ်စ်လင်မ်များသည် 'ဒါရုလ်ဟရ်ဗ်' မှ ဟစ်ဂျ်ရတ် မပြုလုပ်ကြချေ။ သို့ဖြစ်ပေရာ ဒါရုလ်အစ္စလာမ်၌ နေထိုင်ကြသော မွတ်စ်လင်မ်များသည် ဒါရုလ်ဟရ်ဗ်၌ နေထိုင်လျက်ရှိသော မွတ်စ်လင်မ်များတွင် စစ်တိုက်ခိုက်ရာ၌လည်းကောင်း၊ စစ်ပြေငြိမ်းရာ၌လည်းကောင်း၊ အပါအဝင် မဟုတ်ကြပေ။

ဥပမာ ဒါရုလ်ဟရ်ဗ်၌ နေထိုင်လျက်ရှိသော မွတ်စ်လင်မ်များသည် ကာဖိရ်အုပ်စုတခုခုနှင့် တစုံတရာ ပဋိညာဉ်စာချုပ် ချုပ်ဆိုထားလျှင် အဆိုပါစာချုပ်ကို ဒါရုလ်အစ္စလာမ်တွင် နေထိုင်လျက်ရှိသော မွတ်စ်လင်မ်များယေ်၌ လိုက်နာရန် တာဝန်မရှိပေ။ အကြောင်းရှိက ယင်းသို့ ဒါရုလ်ဟရ်ဗ်၌ နေထိုင်လျက်ရှိသော မွတ်စ်လင်မ်များသည် ပဋိညာဉ်စာချုပ် ချုပ်ဆိုထားသည့် ကာဖိရ်အုပ်စုနှင့်ပင် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်နိုင်ကြပေသည်။

သို့ရာတွင် ဒါရုလ်ဟရ်ဗ်၌ နေထိုင်လျက်ရှိသော မွတ်စ်လင်မ်များသည် "ဒီန်" သာသနာရေးနှင့် စပ်လျဉ်း၍ လွတ်လပ်သော (ဝါ) ဒါရုလ်အစ္စလာမ်၌ နေထိုင်လျက်ရှိသည့် မွတ်စ်လင်မ်များထံမှ အကူအညီ တောင်းခံလာကြလျှင် မိမိတို့တတ်စွမ်းနိုင်သမျှ ကူညီရန် တာဝန်ရှိပေသည်။

ယင်းသို့ကူညီရန် တာဝန်ရှိသည်ဟု ဆိုထားရာ၌လည်း လွတ်လပ်သောမွတ်စ်လင်မ်များသည် မိမိတို့ကိုယ်တိုင် ပဋိညာဉ်စာချုပ် ချုပ်ဆိုထားသော ကာဖိရ်အုပ်စုတခုခုကို ဆန့်ကျင်၍ကား ပဋိညာဉ် အတည်ဖြစ်နေသမျှ ကာလပတ်လုံး ဒါရုလ်ဟရ်ဗ်တွင် နေထိုင်လျက်ရှိသော မွတ်စ်လင်မ်တို့အား အကူအညီ မပေးနိုင်ကြပေ။

ထို့ပြင်တဝ မုဟာဂျိရီန်နှင့် အာဆွာရ်တို့၏ အချင်းချင်း အမွေ ဆက်ခံမှုတွင်လည်း ဒါရုလ်ဟရ်ဗ် ၌ နေထိုင်လျက်ရှိသော မွတ်စ်လင်မ်များသည် (ဟစ်ဂျ်ရတ် မပြုလုပ်သမျှ ကာလပတ်လုံး) အပါအဝင် မဟုတ်ကြပေ။

فِي الْأَرْضِ وَفَسَادٌ كَبِيرٌ ﴿٧٣﴾

အကယ်၍သာ (အို-မွတ်စ်လင်မ်တို့) အသင်တို့သည် ဤ(ပညတ်တော်)အတိုင်း မပြုကြပါလျှင်၊ ကမ္ဘာမြေဝယ် (အကြီးအကျယ်)ရှုပ်ထွေးမှု၊ ညှဉ်းပန်းနှိပ်စက်မှုသည်လည်းကောင်း၊ အကြီးအကျယ် ဖျက်ဆီးမှုသည်လည်းကောင်း၊ ဖြစ်ပေါ်၍လာလတ္တံ့။ ၁

وَالَّذِينَ آمَنُوا وَهَاجَرُوا وَجَاهَدُوا فِي سَبِيلِ اللَّهِ وَالَّذِينَ آوَوا وَّنَصَرُوا أُولَٰئِكَ هُمُ الْمُؤْمِنُونَ حَقًّا ۚ لَّهُم مَّغْفِرَةٌ وَرِزْقٌ كَرِيمٌ ﴿٧٤﴾

၇၄။ ထို့ပြင်တဝ အကြင်သူတို့သည် သက်ဝင်ယုံကြည်ခဲ့ကြကုန်၏၊ ၎င်းပြင်ထိုသူတို့သည် (မိမိတို့၏) အိုးအိမ် စည်းစိမ်(တို့ကိုစွန့်ကာ အရပ်တပါးသို့) ရွှေ့ပြောင်းနေထိုင်ခဲ့ကြကုန်၏၊ ထိုမှတပါး ယင်းတို့သည် အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ခဲ့ကြကုန်၏၊ ထိုအတူ အကြင်သူတို့သည် ခိုကိုးရန်နေရာများ ပေးခဲ့ကြကုန်၏၊ ၎င်းပြင်ထိုသူတို့သည် ယိုင်းပင်းကူညီခဲ့ကြကုန်၏၊ ထိုသူတို့သည်ပင်လျှင် ပြည့်စုံသော 'မုအ်မင်န်' ယုံကြည်ခြင်းသဒ္ဓါတရားထားရှိသူများ ဖြစ်ကြကုန်သတည်း။

ထိုသူတို့အဖို့မှာကား လွတ်ငြိမ်းချမ်းသာခွင့်သည်လည်းကောင်း၊ မြင့်မြတ်လှစွာသော စားနပ်ရိက္ခာသည်လည်းကောင်း၊ ရှိချေသတည်း။

---

(၁) အမှန်စင်စစ် ကာဖိရ်နှင့်မွတ်စ်လင်မ်များသည် အချင်းချင်း မိတ်ဆွေလည်းမဟုတ်၊ အချင်းချင်း အမွေဆက်ခံနိုင်သည်လည်းမရှိ။ ကာဖိရ်သည် ကာဖိရ်၏မိတ်ဆွေဖြစ်၏။ အချင်းချင်း အမွေစား အမွေခံလည်းဖြစ်၏။ ဤမျှမက ကာဖိရ်အားလုံးတို့သည် မွတ်စ်လင်မ်တို့အား ရန်ငြိုးထားရတွင် တညီတညွတ်တည်းပင်ဖြစ်ကြ၏။ ယင်းကာဖိရ်များသည် အင်းအားချည့်နဲ့သော မွတ်စ်လင်မ်များအား တွေ့ရာနေရာတိုင်းတွင် နှိပ်စက်ညှဉ်းပန်းကြမည်သာ ဖြစ်၏။

သို့ဖြစ်ပေရာ မွတ်စ်လင်မ်များသည် ယင်းသို့သော ကာဖိရ်များအား ခုခံကာကွယ်နိုင်ရန် အတွက် အချင်းချင်း မိတ်ဆွေရင်းချာ မဖြစ်ကြလျှင်၊ အချင်းချင်း မကူညီမယိုင်းပင်းကြလျှင်၊ သို့တည်းမဟုတ် အားအင်ချည့်နဲ့သော မွတ်စ်လင်မ်များသည် လွတ်လပ်သော မွတ်စ်လင်မ်များနှင့် ဆက်သွယ်ပူးပေါင်း၍ အကူအညီ အထောက်အပံ့ရယူရန် မကြိုးပမ်းကြလျှင် အလွန်ကြီးမားသော နှိပ်စက်ညှဉ်းပန်းမှု၊ ဖျက်ဆီးမှုများ ဖြစ်ပေါ်လာပေမည်။ အားအင်ချည့်နဲ့သော မွတ်စ်လင်မ်များသည် ငြိမ်းချမ်းသာယာစွာ နေနိုင်ကြမည်မဟုတ်၊ ➢➢

وَالَّذِينَ آمَنُوا مِن بَعْدُ
وَهَاجَرُوا وَجَاهَدُوا مَعَكُمْ
فَأُولَٰئِكَ مِنكُمْ ۚ وَأُولُو الْأَرْحَامِ
بَعْضُهُمْ أَوْلَىٰ بِبَعْضٍ فِي
كِتَابِ اللَّهِ ۗ إِنَّ اللَّهَ بِكُلِّ شَيْءٍ
عَلِيمٌ ﴿٧٥﴾

၇၅။ ၎င်းပြင် အကြင်သူတို့သည် နောက်သော်မှ 'အီမာန်' သက်ဝင်ယုံကြည်ခဲ့ကြကုန်၏။ ထို့ပြင် ၎င်းတို့သည် (အရပ်တပါးသို့) ရွှေ့ပြောင်းနေထိုင်ခြင်းကိုလည်း ပြုခဲ့ကြကုန်၏။ ထိုမှတပါး ယင်းတို့သည် အသင်တို့နှင့်အတူ စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ခြင်းကိုလည်း ပြုခဲ့ကြကုန်၏။ သို့ဖြစ်လျှင် ၎င်းတို့သည်လည်း အသင် (မုဟာဂျီရီန်နှင့် အန်ဆွာရ်) တို့တွင် အပါအဝင် ဖြစ်ကြကုန်သည်။

သို့ရာတွင် (၎င်းတို့အနက်မှ) ဆွေမျိုးရင်းချာတို့သည် အလ္လာဟ် အရှင်မြတ်၏ ကျမ်းတော်အရ အချင်းချင်း *တဦး၏အမွေကို တဦးက ပိုမို၍ပင် ဆက်ခံထိုက်၏။* [၁] မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူသတည်း။

---

➢➢ ၎င်းတို့၏ 'အီမာန်' ယုံကြည်မှုသည်ပင်လျှင် စိုးရိမ်ဖွယ်ရာ ဖြစ်ပေမည်။

မွတ်စ်လင်မ်များသည် အချင်းချင်း အမွေစားအမွေခံများ ဖြစ်ကြသကဲ့သို့ ကာဖိရ်များသည်လည်း အချင်းချင်း အမွေစားအမွေခံများ ဖြစ်ကြပေသည်။ မွတ်စ်လင်မ်များသည် ကာဖိရ်များ၏ အမွေစားအမွေခံမဟုတ်၊ ကာဖိရ်များသည်လည်း မွတ်စ်လင်မ်များ၏ အမွေစားအမွေခံ မဟုတ်။ အကယ်၍ မွတ်စ်လင်မ်များသည် ဤအမိန့်တော်ကို မလိုက်နာ မကျင့်သုံးကြလျှင်(ဝါ)ဘာသာအချင်းချင်း ဆန့်ကျင်နေပါလျက် သားချင်းတော်စပ်မှုကို အကြောင်းပြု၍ ကာဖိရ်နှင့်မွတ်စ်လင်မ်တို့ စပ်ကြား၌ အမွေဆက်ခံမှုကို ထားရှိကြလျှင်၊ ကမ္ဘာမြေပြင်တွင် ကြီးမားသော ညှဉ်းပန်းမှု၊ ကြီးကျယ်သော ဖျက်ဆီးမှုများ ဖြစ်ပေါ်လာပေမည်။

အဘယ်ကြောင့် ဆိုသော် (ကာဖိရ်နှင့် မွတ်စ်လင်မ်တို့ စပ်ကြား၌) အချင်းချင်း အမွေဆက်ခံမှု ရှိနေခြင်း အားဖြင့် အားလုံးတို့သည် တသင်းတဖွဲ့တည်းပင် ဖြစ်သည်ဟု ယူဆရပေမည်။ အမှန်စင်စစ် မွတ်စ်လင်မ်များသည် သီးသန့် အဖွဲ့အစည်း သီးသန့်အုပ်စုကြီး မဖြစ်သမျှ ကာလပတ်လုံး အစ္စလာမ် သာသနာတော်တွင် အားအင် အရှိန်အဝါ ရှိနိုင်မည်မဟုတ်ပေ။ အစ္စလာမ် သာသနာတော်၏ အားအင် ချည့်နဲ့နေခြင်းသည်ပင် ကမ္ဘာ၌ နှိပ်စက်ညှင်းပန်းမှု ဖျက်ဆီးမှုများ ဖြစ်ပေါ်ခြင်း၏ အကြောင်းတရားပင် ဖြစ်ပေသည်။ ဤသည် အထင်အရှားပင်။

ထာနဝီ၊ အ-၄၊ စ-၉၃။

(၁) အကြင် မွတ်စ်လင်မ်များသည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ဟစ်ဂျ်ရတ် ➢➢

➤➤ ပြုလုပ်ပြီးသည့် နောက်တွင်မှ အီမာန်ယူလာခဲ့ကြ၏၊ ဟစ်ဂျ်ရတ်ပြုလုပ်ကြ၏။ ယခင်မွတ်စလင်မ်များနှင့် အတူအကွ ဂျိဟာဒ်လည်း ပြုလုပ်ကြ၏။ ဆိုလိုသည်ကား ဤမွတ်စ်လင်မ်များသည် အလုပ်အားလုံး လုပ်ကြ၏။ သို့ရာတွင် အချိန်နောက်ကျမှ ပြုလုပ်ခဲ့ကြ၏။ ဤသို့ အီမာန်ယုံကြည်ရာတွင်လည်းကောင်း၊ ဟစ်ဂျ်ရတ်ပြုလုပ်ရာတွင်လည်းကောင်း၊ ဂျိဟာဒ်ပြုလုပ်ရာတွင်လည်းကောင်း၊ အချိန်အားဖြင့် နောက်ကျသော မွတ်စ်လင်မ်များသည် 'ဖဿီလတ်' ဂုဏ်အင်ဒြပ်အားဖြင့် ပထမအချိန်တွင် အီမာန်ယူခဲ့ကြသော၊ ဟစ်ဂျ်ရတ်ပြုလုပ်ခဲ့ကြသော၊ ဂျိဟာဒ်ပြုလုပ်ခဲ့ကြသော ပထမမွတ်စ်လင်မ်များနှင့် တန်းတူ မဖြစ်နိုင်ကြသော်လည်း ၎င်းတို့တွင် အပါအဝင်ကား ဖြစ်ကြပေသည်။ အကျင့်၊ သီလ၊ အပြုအမူများကို အကြောင်းပြု၍ 'ဖဿီလတ်' မြင့်မြတ်မှု၊ သာပိုမှု၊ ထူးကဲမှုတွင် အနိမ့်အမြင့်ကား ရှိ၏။ သို့သော် ရှရီအတ် တရားဥပဒေတွင်မူ အပြုအမူ အကျင့်သီလကို အကြောင်းပြု၍ ခြားနားချက်မရှိပေ။ ထို့အတွက်ကြောင့် နောက်ကျမှ ဟစ်ဂျ်ရတ်ပြုလုပ်သော မုဟာဂျိရိန်များသည် ၎င်းတို့ အချင်းချင်းသော်လည်းကောင်း၊ ယခင်ပထမ မုဟာဂျိရိန်များနှင့်သော်လည်းကောင်း ဆွေမျိုးသားချင်း တော်စပ်နေကြပါသော် ဂုဏ်အင်ဒြပ်အားဖြင့် နိမ့်ကျနေကြသည်ပင် ဖြစ်စေကာမူ အမွေဆက်ခံရာ၌ ဆွေမျိုးသားချင်း မတော်စပ်သော ပုဂ္ဂိုလ်များထက် (၎င်းတို့သည် ဂုဏ်အင်ဒြပ်အားဖြင့် သာပိုကြသည်ပင် ဖြစ်စေကာမူ အမွေဆက်ခံရာတွင် အချင်းချင်း ပိုမိုခံစားခွင့် ရှိကြပေသည်။ ကြည့်-ထာနဝီ။




بَرَآءَةٌ مِّنَ اللّٰهِ وَرَسُوْلِهٖٓ اِلَى الَّذِيْنَ عٰهَدْتُّمْ مِّنَ الْمُشْرِكِيْنَ ۝١

فَسِيْحُوْا فِى الْاَرْضِ اَرْبَعَةَ اَشْهُرٍ وَّاعْلَمُوْٓا اَنَّكُمْ غَيْرُ مُعْجِزِى اللّٰهِ وَاَنَّ اللّٰهَ مُخْزِى الْكٰفِرِيْنَ ۝٢

## နောင်တရခြင်းကဏ္ဍ

၁။ ဤသည် အလ္လာဟ်အရှင်မြတ် အထံတော်မှလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အထံတော်မှလည်းကောင်း၊ အသင်တို့ (ကာလအပိုင်းအခြားမရှိ) ပဋိညာဉ်စာချုပ် ချုပ်ဆိုခဲ့ကြသော'မုရှ်ရစ်က်' တို့အား (၎င်းတို့၏ ပဋိညာဉ်စာချုပ်နှင့်စပ်လျဉ်း၍) *လုံးဝတာဝန်ကင်းကြောင်း* [၁] (ကြေငြာခြင်းပင်) ဖြစ်ပေသတည်း။

၂။ သို့ဖြစ်ပေရာ (အို–နဗီတမန်တော်၊ အသင်သည် မုရှ်ရစ်က်တို့အား ဤသို့ ပြောကြားပါလေ)။ အချင်းတို့ အသင်တို့သည် (ဤ)တိုင်းပြည်ဝယ် *လေးလတိုင်အောင်* [၂] (လွတ်လပ်စွာ)လှည့်လည်(သွားလာ)ကြလေကုန်။ ထိုမှတပါး အသင်တို့သည် ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်နှင့်လွတ်ကင်းအောင် ထွက်ပြေးနိုင်ကြသူများ မဟုတ်ကြောင်းကို လည်းကောင်း၊ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည်ပင် "ကာဖိရ်" မယုံမကြည် သွေဖည် ငြင်းပယ်သော သူတို့အား၊ အရှက်တကွဲ ဖြစ်စေတော်မူမည့် အရှင်မြတ်ပင် ဖြစ်တော်မူကြောင်းကို လည်းကောင်း၊ (ကောင်းစွာ) မှတ်ယူကြလေကုန်။ [၃]

---

(၁) "ဗရာအတ်" ဟူသည်ကြည့်ရှုထောက်မမှုဖြတ်ခြင်း၊ ကာကွယ်ထိန်းသိမ်းမှု ရပ်စဲခြင်း၊ ငြိမ်းချမ်းမှုပပျောက်ခြင်းကို ဆိုလိုသည်။ ဂျဆ္ဆဆ္ဆာဆ္ဆ။

"ဗရာအတ်" ၏ အနက်အဓိပ္ပာယ်မှာ ကာကွယ်ထိန်းသိမ်းမှု ပြတ်စဲခြင်းဟူ၍ဖြစ်သည်။ ကဗီရ်။

(၂) မုရှ်ရစ်က်တို့အား ဤသို့ ၄–လ ခွင့်ပြုထားတော်မူခြင်းမှာ မုရှ်ရစ်က်တို့၏ အကျိုးကို ရှေးရှုတော်မူခြင်း၊ မုရှ်ရ်စ်က်တို့အား ထောက်ထားညှာတာတော်မူခြင်းကြောင့်သာ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၌ အားအင်ချို့တဲ့၍ကား အလျှင်း မဟုတ်ပေ။

မုရှ်ရစ်က်တို့သည် ဤ ၄–လအတွင်း အစ္စလာမ့်ဘောင်အတွင်းသို့ ဝင်လိုက ဝင်လာနိုင်ကြပေသည်။ သို့မဟုတ်ပါက သတ်မှတ်ထားတော်မူသော အစ္စလာမ်၏ဗဟိုဌာနမှ ထွက်ခွာသွားကြရမည်ဖြစ်သည်။ ➤➤

(တနည်း)

ထိုမှတပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား မစွမ်းဆောင်နိုင်အောင် ပြုလုပ်နိုင်သူများ မဟုတ်ကြောင်းကိုလည်းကောင်း၊ မုချဧကန် အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်တို့အား အရှက်တကွဲ ဖြစ်စေတော် မူမည့်အရှင် ဖြစ်တော်မူသည်ကိုလည်းကောင်း၊ သိထားကြလေကုန်။

၃။ ထို့ပြင် အလ္လာဟ် အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ ရစူလ်တမန်တော်၏ အထံတော်မှ *"ဟဂ္ဂျ်ဂျေအတ်က်ဗရ်"* [၁] နေ့တွင် လူခပ်သိမ်းတို့ရှေ့ဝယ်၊ ဧကန်စင်စစ်၊ အလ္လာဟ်အရှင်မြတ်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်သည်လည်းကောင်း၊ (ပဋိညာဉ်ကို မိမိတို့ကိုယ်တိုင် ချိုးဖောက်ခဲ့ကြသော) *"မုရှ်ရစ်က်"* တို့နှင့် ပတ်သက်၍ [၂] (အချိန်ကာလတစုံတရာ သတ်မှတ်ခြင်းပြုတော်မမူပဲ ယခုပင်)တာဝန်ကင်းတော်မူကြောင်း ကြေငြာခြင်းပင် ဖြစ်ချေသတည်း။

وَاَذَانٌ مِّنَ اللّٰهِ وَرَسُوْلِهٖٓ اِلَى النَّاسِ يَوْمَ الْحَجِّ الْاَكْبَرِ اَنَّ اللّٰهَ بَرِيْۤءٌ مِّنَ الْمُشْرِكِيْنَ ۙ وَرَسُوْلُهٗ ؕ فَاِنْ تُبْتُمْ فَهُوَ خَيْرٌ لَّكُمْ ۚ وَاِنْ تَوَلَّيْتُمْ فَاعْلَمُوْٓا اَنَّكُمْ غَيْرُ مُعْجِزِى اللّٰهِ ؕ وَبَشِّرِ الَّذِيْنَ

➤➤ အစ္စလာမ်သာသနာသည် မိမိ၏ ရန်သူများအား အရေးယူနေသည့် အချိန်မှာပင် ၄ လ တိုင်တိုင် ခွင့်ပြုထားပြီး လွယ်ကူမှုများကို ဖန်တီးပေးခဲ့ပေသည်။

③ ကုရ်အာန်ကျမ်းလာ အာယတ်တော် (၉း၁-၂)သည် တတိယအုပ်စုနှင့် သက်ဆိုင်ပေသည်။ ထို့အတူ ဤအာယတ်တော်များသည် စတုတ္ထအုပ်စုနှင့်လည်း သက်ဆိုင်ပေသည်။ အဘယ့်ကြောင့်ဆိုသော် ပဋိညာဉ်စာချုပ်ချုပ်ဆိုထားသည့် တတိယအုပ်စုအပေါ်မှပင် ငြိမ်းချမ်းမှုကို ရုပ်သိမ်းတော်မူလိုက်သည်ဖြစ်ရာ တစုံတရာ စာချုပ်ချုပ်ဆိုထားခြင်းမရှိသော စတုတ္ထအုပ်စုအဖို့မှာကား ယခင်မူလအစကပင် ငြိမ်းချမ်းမှုမရှိသောကြောင့် ငြိမ်းချမ်းမှုကို ရုပ်သိမ်းရန် ပြဿနာပင် မပေါ်ခဲ့ချေ။ ထို့အတွက် စတုတ္ထအုပ်စုသည်လည်း ဤအာယတ်တော် များတွင် အကျုံးဝင်လျက်ရှိပေသည်။ ကြည့်-ထာနဝီ။

① "ဟဂ္ဂျ်ဂျေအတ်က်ဗရ်" ဟူသည် 'ဟဂ္ဂျ်' ကိုပင်ဆိုလိုသည်၊ "အတ်က်ဗရ်" ဟူ၍ ဝိသေသပြုထားခြင်းမှာ "ဟဂ္ဂျ်ဂျေအ်ဆွတ်ဃရရ်" (ဝါ) "အွန်မ်ရဟ်" နှင့် ခြားနားရန်အတွက်သာ ဖြစ်သည်။ အေ့မာမ် အဗူဟနီဖာဟ်သခင်နှင့် အေ့မာမ်ရှာဖီအီသခင်တို့လည်း ဤအတိုင်းပင်ယူဆကြသည်။

② ကုရ်အာန်ကျမ်းလာ အာယတ်တော် (၉း၃-၄)သည်၊ ပထမ၊ ဒုတိယအုပ်စုများနှင့် သက်ဆိုင်ပေသည်။ ပဋိညာဉ်ကို ချိုးဖောက်သော မုရှ်ရစ်က်များဟူသည် ပထမအုပ်စုကိုဆိုလိုသည်။ ထာနဝီ။

كَفَرُوْا بِعَذَابٍ اَلِيْمٍ ۙ﴿٣﴾

သို့ ဖြစ်သော်ငြားလည်း (အို - မုရှ်ရစ်က် အပေါင်းတို့) အကယ်၍ အသင်တို့သည် (မိမိတို့၏ အယူဝါဒများကို စွန့်လွှတ်၍) ဝန်ချတောင်းပန်ကြပါမူ ထိုဝန်ချတောင်းပန်ခြင်းသည် အသင်တို့အဖို့ အကောင်းဆုံးပင်ဖြစ်ချေသည်။ သို့ရာတွင် အကယ်၍ အသင်တို့သည် (ဝန်ချ) တောင်းပန်ခြင်း မပြုပဲ မျက်နှာလွှဲခဲ့ကြပါလျှင် ဧကန်စင်စစ် အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်လွတ်ကင်းအောင် ထွက်ပြေးနိုင်ကြမည်မဟုတ်ကြောင်း ကောင်းစွာ မှတ်ယူကြလေကုန်။ထို့ပြင် (အို-နဗီတမန်တော်) အသင်သည် "ကာဖိရ်" သွေဖည်ငြင်းပယ်ကြကုန်သောသူတို့အား (၎င်းတို့ခံစားခြင်းငှာ) ပြင်းပြနာကျင်စေသော အပြစ်ဒဏ်သည် (အဆင်သင့်)ရှိကြောင်း သတင်းကောင်း ပြောကြားပါလေ။

اِلَّا الَّذِيْنَ عٰهَدْتُّمْ مِّنَ الْمُشْرِكِيْنَ ثُمَّ لَمْ يَنْقُصُوْكُمْ شَيْـًٔا وَّلَمْ يُظَاهِرُوْا عَلَيْكُمْ اَحَدًا فَاَتِمُّوْٓا اِلَيْهِمْ عَهْدَهُمْ اِلٰى مُدَّتِهِمْ ۗ اِنَّ اللّٰهَ يُحِبُّ الْمُتَّقِيْنَ ﴿٤﴾

၄။ အကြင် 'မုရှ်ရစ်က်' တို့မှတပါး အသင်တို့သည် ထိုသူတို့နှင့် ပဋိညာဉ် ဖွဲ့ခဲ့ကြလေသည်။ ထို့နောက် ၎င်းတို့သည် အသင်တို့နှင့်ပတ်သက်၍ တစုံတရာကိုမျှ ဝတ္တရားပျက်ကွက်ခဲ့ကြသည်လည်း မရှိပေ။ယုတ်လျော့စေခဲ့ကြသည်လည်းမရှိပေ။ ၎င်းပြင် ထိုသူတို့သည် အသင်တို့နှင့် ဆန့်ကျင်၍ မည်သူ တဦးတယောက်ကိုမျှ ကူညီခဲ့ကြသည်လည်းမရှိချေ။ သို့ဖြစ်လျှင် အသင်တို့သည် ထိုသူတို့နှင့်ထားရှိသောကတိကို ထိုသူတို့ (သတ်မှတ်ခဲ့သော) အချိန်ကာလအပိုင်းအခြားအထိ ပြီးမြောက်အောင်ဆောင်ရွက်ကြလေကုန်။ မုချဧကန် အလ္လာဟ်အရှင်မြတ်သည် ပြစ်မှုဒုစရိုက်တို့မှကြည်ရှောင်ကြကုန်သော သူတော်စင်တို့အား ချစ်ကြည် မြတ်နိုးတော်မူချေသတည်း။

فَإِذَا انسَلَخَ الْأَشْهُرُ الْحُرُمُ
فَاقْتُلُوا الْمُشْرِكِينَ حَيْثُ
وَجَدتُّمُوهُمْ وَخُذُوهُمْ
وَاحْصُرُوهُمْ وَاقْعُدُوا لَهُمْ
كُلَّ مَرْصَدٍ ۚ فَإِن تَابُوا
وَأَقَامُوا الصَّلَاةَ وَآتَوُا
الزَّكَاةَ فَخَلُّوا سَبِيلَهُمْ ۚ
إِنَّ اللَّهَ غَفُورٌ رَّحِيمٌ ﴿٥﴾

၅။ သို့ဖြစ်ပေရာ ထူးမြတ်သောလများ ကုန်လွန်သွားသောအခါ အသင်တို့သည် (ပဋိညာဉ်ကို ချိုးဖောက်ခဲ့ကြသော) 'မုရှ်ရစ်က်' တို့အား အသင်တို့ တွေ့လေရာနေရာများတွင် (သတ်ဖြတ်ကြလေကုန်၊ ထို့ပြင် အသင်တို့သည် ၎င်းတို့အား ဖမ်းဆီးကြလေကုန်။ ထိုမှတပါး အသင်တို့သည် ၎င်းတို့အား ချုပ်နှောင် (အကျဉ်းချထား)ကြလေကုန်။ ၎င်းပြင် အသင်တို့သည် ထိုသူတို့အား (ဖမ်းဆီးရန်) ပုန်းအောင်းရာနေရာတိုင်းတွင် (ပုန်းအောင်း၍) ချောင်းမြောင်းကြလေကုန်။) တဖန် အကယ်၍ ထိုသူတို့သည် (မိမိတို့၏အယူဝါဒများကို စွန့်လွှတ်၍) ဝန်ချတောင်းပန်ခြင်းကိုလည်းကောင်း၊ တည်မြဲစွာ'ဆွလာတ်' ဝတ်ပြုခြင်းကိုလည်းကောင်း၊ ဇကာတ် တရားဝင်ဒါနကြေးပေးဆောင်ခြင်းကိုလည်းကောင်း၊ ပြုကြပါလျှင် အသင်တို့သည် *၎င်းတို့၏လမ်းကို ဖွင့်လှစ်ပေးကြလေကုန်။*[၁] ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာညှာတာတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

① ဤအာယတ်တော်သည် ပဋိညာဉ်ချိုးဖောက်ခဲ့ကြသော မုရှ်ရစ်က်များ (ဝါ) ပထမအုပ်စုနှင့် သက်ဆိုင်ပေသည်။ (ကြည့်-အစ်ဗ်နုလ်အရဗီ၊ဗိုင်သွာဝီ၊မဒါရစ်က်၊မာဂျိဒီ) ၎င်းတို့အား အချိန်ပို အခွင့်ပေးရန်အကြောင်း အလျှင်း မရှိတော့ပေရာ ၎င်းတို့အား စစ်တိုက်ခိုက်ရန်သာ ရှိတော့သည်။ သို့ရာတွင် ဖော်ပြချက်၌ ရေးသားဖော်ပြခဲ့သည့်အတိုင်း မုဟာရ်ရမ်လ ကုန်ဆုံးသည်အထိ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရေးအတွက် 'အရှ်ရ်ဟုရ်ဟုရွှမ်' ခေါ် ထူးမြတ်သောလများသည် တားဆီးလျက် ရှိပေသည်။ အဆိုပါ ထူးမြတ်သောလများ ကုန်ဆုံးသွားသည့်အခါ ဤပထမအုပ်စုဝင် မုရှ်ရစ်က်တို့အား အပြတ်အသတ် တိုက်ခိုက်ကွပ်မျက်ကြရမည်သာ ဖြစ်သည်။ သို့ရာတွင် အကယ်၍ ၎င်းတို့သည် 'ကုဖ်ရ်' သွေဖည်ငြင်းပယ်မှုကို စွန့်လွှတ်၍ အစ္စလာမ် သာသနာတော်အတွင်းသို့ ဝင်ရောက်လာကြလျှင် (ဥပမာ-၎င်းတို့သည် ဆွလာတ်ဝတ်ပြုကြလျှင်၊ ဇကာတ်ပေးလှူကြလျှင်) ၎င်းတို့အား သတ်ဖြတ်ဖမ်းဆီးခြင်း မပြုကြရပေ။

وَإِنْ أَحَدٌ مِّنَ الْمُشْرِكِينَ اسْتَجَارَكَ فَأَجِرْهُ حَتَّىٰ يَسْمَعَ كَلَامَ اللَّهِ ثُمَّ أَبْلِغْهُ مَأْمَنَهُ ۚ ذَٰلِكَ بِأَنَّهُمْ قَوْمٌ لَّا يَعْلَمُونَ ⑥

၆။ တဖန် အကယ်၍ (ပဋိညာဉ်ကိုချိုးဖောက်သော) မွတ်ရှိရစ်ကတို့အနက်မှ တဦးတယောက်သောသူသည် အသင့်ထံတွင် အကာအကွယ် ရလိုခဲ့ပါလျှင် အသင်သည် ထိုသူအား ၎င်းသည် အလ္လာဟ်အရှင်မြတ်၏အာယတ်တော်ကို ကြားနာနိုင်အံ့သော၄ာ ကာကွယ်ပါလေ၊) ထို့နောက်အသင်သည် ထိုသူ့အား *၎င်း၏ဘေးရန်ကင်းငြိမ်းရာဌာနသို့ ပို့ဆောင်၍ပေးပါလေ။* [၁] ဤ(အမိန့်တော်ကို ထုတ်ပြန်တော်မူခြင်း)ကား ၎င်းတို့သည် မသိနားမလည်သောသူများဖြစ်ကြသောကြောင့်ပင်။ [၂]

---

(၁) "ထို့နောက် အသင်သည် ထိုသူတို့အား ထိုသူ၏ ဘေးရန်ကင်းငြိမ်းရာဌာနသို့ ပို့ဆောင်၍ ပေးပါလေ" ဟူသော အာယတ်တော်ကို ကိုးကား၍ မုဖတ်စ်စစ်ရှ်များနှင့် ဖုကဟာဓမ္မသတ်ရှင်များသည် အောက်ပါဓမ္မသတ်များကိုရေးမှတ်ကြသည်။

(က) 'မွတ်စ်တအ်မင်န် – ခိုလှုံခွင့်တောင်းသူအား ဒုက္ခမပေးရမည့် အကြောင်း ဤအာယတ်တော်တွင် သာဓကတရပ်ပါရှိသည်။ (မဒါရိစ်က်။) ခိုလှုံခွင့်တောင်းဆိုသော ဤ 'ဟာရ်ဗီ' ကို ကာကွယ်ထိန်းသိမ်းခြင်း၊ ၎င်းအား တစုံတရာ ဒုက္ခမပေးရန် လူများကိုပိတ်ပင်ခြင်းများသည် အေ့မာမ်ခေါင်းဆောင်အပေါ်၌ တာဝန်ရှိကြောင်း ဤအာယတ်တော်သည် သာဓကဖြစ်သည်။ဂျဆ္ဆွာဆ်။

(ခ) 'ဇင်မ်မီ'များကို ကာကွယ်ထိန်းသိမ်းခြင်း၊ ၎င်းတို့အား ဒုက္ခမပေးရန်၊ စော်ကားခြင်းမပြုရန် တားမြစ်ခြင်းများသည် အေ့မာမ်ခေါင်းဆောင်အပေါ်၌ တာဝန်ရှိကြောင်း ဤအာယတ်တော်တွင် သာဓကတရပ်ပါရှိလေသည်။ ဂျဆ္ဆွာဆ်။

(ဂ) "ဟာရ်ဗီ" တဦးအား ဒါရုလ်အစ္စလာမ်၌ အချိန်ကြာရှည်စွာ နေထိုင်ခွင့်မပြုအပ်ကြောင်း၊ ၎င်းအား ဒါရုလ်အစ္စလာမ်၌ ၎င်း၏လိုအင်ဆန္ဒ ပြည့်ဝစေရန်အတွက် လိုအပ်သမျှသော အချိန်မျှသာ နေခွင့်ပြုရမည့်အကြောင်း ဤအာယတ်တော်တွင် သာဓကတရပ်ပါရှိလေသည်။ ဂျဆ္ဆွာဆ်။

(ဃ) ဒီန်သာသနာရေးနှင့်စပ်လျဉ်း၍ ကျွန်ုပ်တို့ထံမှ စုံစမ်းမေးမြန်းသူတိုင်းအား ၎င်းတို့သိလိုသော အရာကို သင်ကြား ပြသပေးရန်မှာ ကျွန်ုပ်တို့၏ တာဝန်ဖြစ်ကြောင်း ဤအာယတ်တော်တွင် သာဓကတရပ်လည်း ပါရှိပေသည်။ ဂျဆ္ဆွာဆ်။

(၂) မုရှ်ရစ်ကတို့အား လွတ်ငြိမ်းချမ်းသာခွင့် ပေးထားသည့် အချိန်ကာလ ကုန်ဆုံးသွားပြီးသည့်နောက် သတ်ဖြတ်ကွပ်မျက်ပိုင်ခွင့်ပြုထားသည့်အချိန်တွင် မုရှ်ရစ်ကများအနက် တဦးတယောက်သည် ဝန်ချ တောင်းပန်ခြင်းနှင့်အစ္စလာမ်သာသနာ၏ အကျိုးကျေးဇူးများကိုကြားပြီး အစ္စလာမ်သာသနာတော်ကို စိတ်ဝင်စားကာ အစ္စလာမ်သာသနာ၏ အခြေအမြစ်နှင့် မှန်ကန်မှုများကို ရှာဖွေဆည်းပူးလိုသည့်အတွက် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံ ခိုလှုံခွင့်ပန်ကြားလာလျှင် တမန်တော်မြတ်သည် ဤသို့သော ➤➤

كَيْفَ يَكُونُ لِلْمُشْرِكِينَ عَهْدٌ عِندَ اللَّهِ وَعِندَ رَسُولِهِ إِلَّا الَّذِينَ عَاهَدتُّمْ عِندَ الْمَسْجِدِ الْحَرَامِ ۖ فَمَا اسْتَقَامُوا لَكُمْ فَاسْتَقِيمُوا لَهُمْ ۚ إِنَّ اللَّهَ يُحِبُّ الْمُتَّقِينَ ⑦

၇။ "မုရှ်ရစ်က်" တို့၏ပဋိညာဉ်ကို ထောက်ထားလိုက်နာရန် တာဝန်သည် အလ္လာဟ်အရှင်မြတ်အပေါ်၌လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်အပေါ်၌လည်းကောင်း၊ အသို့လျှင်ရှိနိုင်ပါအံ့နည်း။ "မတ်စ်ဂျိဒေဟရာမ်" ထူးမြတ်သောဗလီဝတ်ကျောင်းတော်၏အပါးတွင် အသင်တို့ ပဋိညာဉ်ဖွဲ့ခဲ့ကြသောသူတို့မှတပါး၊ ၎င်းတို့သည် အသင်တို့နှင့်ပတ်သက်၍ ဖြောင့်မတ်စွာ တည်ရှိနေသမျှကာလပတ်လုံး အသင်တို့သည်လည်း ၎င်းတို့နှင့်ပတ်သက်၍ *ဖြောင့်မတ်စွာ တည်ရှိကြလေကုန်*။ [၁] ဧကန်မလွဲအလ္လာဟ်အရှင်မြတ်သည် ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်ကြကုန်သောသူတော်စင်တို့အား ချစ်မြတ်နိုးတော်မူပေသတည်း။

---

➤➤ မုရှ်ရစ်က်အား ခိုလှုံခွင့်ပေးရမည် ဖြစ်သည်၊ သို့မှသာလျှင် ထိုမုရှ်ရစ်က်သည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော် (ဝါ) ဒေသနာတော်များကို ကြားနာနိုင်မည်ဖြစ်သည်။ ထို့နောက် ၎င်းအား ၎င်း၏ဘေးကင်းရာဌာနသို့ ရောက်ရှိသွားစေရမည်ဖြစ်သည်။ သို့မှသာလျှင် ထိုမုရှ်ရစ်က်သည် အေးဆေးစွာ အချိန်ယူ စဉ်းစားဆင်ခြင်ကာ အဆုံးအဖြတ် ပေးနိုင်မည်ဖြစ်သည်။ ဤသို့ ခိုလှုံခွင့်ပေးစေတော်မူခြင်း၏ အကြောင်းရင်းမှာ ၎င်းတို့သည် အစ္စလာမ်သာသနာ၏အကြောင်းကို ကောင်းစွာ မသိနားမလည်သူများ ဖြစ်ကြခြင်းကြောင့်ပင် ဖြစ်သည်။

ထာနဝီ (အ-၄။ စ-၉၉)

(၁) လွန်ခဲ့ပြီးဖြစ်သော အာယတ်တော်များတွင် အရဗ်မုရှ်ရစ်က်တို့၏ ပဋိညာဉ်များနှင့် စပ်လျဉ်း၍ တာဝန်ကင်းကြောင်း ကြေငြာချက်ပါရှိခဲ့သည်။ ဤအာယတ်တော်များတွင် အဆိုပါကြေငြာချက်၏ အကြောင်းအကျိုးများကိုပင် မိန့်ဆိုထားတော်မူသည်။ အရဗ်မုရှ်ရစ်က်များနှင့် ဖွဲ့ဆိုထားသည် ပဋိညာဉ်များသည် အသို့လျှင်တည်ရှိနိုင်အံ့နည်း။ နောင်ကိုလည်း ငြိမ်းချမ်းမှုသည် အသို့လျှင် ဖြစ်ရှိနိုင်အံ့နည်း။ အဘယ်ကြောင့်ဆိုသော် ယင်း မုရှ်ရစ်က်များသည် မွတ်စ်လင်မ်များနှင့် ဆက်ဆံရာတွင် အဘယ်အခါမဆို အနည်းငယ်မျှပင် အခွင့်အရေးရရှိက မွတ်စ်လင်မ်တို့အား အနှောင့်အယှက်ပေးရာ၌ သားချင်းတော်စပ်မှုနှင့် မိမိတို့ကိုယ်တိုင် ဖွဲ့ဆိုထားသည့် ပဋိညာဉ်ကိုပင် ထောက်ထားကြသည်မရှိပေ။ ၎င်းတို့သည် ချိန်ခါမရွေး မိမိတို့၏ ကတိသစ္စာကို ချိုးဖောက်ရန်ပင် စိုင်းပြင်းလျက် ရှိကြသည်။ ၎င်းတို့သည် အများအားဖြင့် ကတိဖျက်သူများ။ သစ္စာဖောက်သူများသာ ဖြစ်ကြပေသည်။ ကတိသစ္စာကို စောင့်သိရှိသေသောသူ တဦးစနှစ်ဦးစ ရှိပြန်သော်လည်း ထိုတဦးစနှစ်ဦးစ၏အသံမှာ သစ္စာဖောက် လူများစုကြီး၏ရှေ့တွင် တိမ်မြုပ်လျက်သာ ရှိချေသည်။ အချုပ်အားဖြင့် ဤသို့ ကတိမတည်သော အမြဲတစေ သစ္စာဖောက်လျက်ရှိသော အချိန်မရွေး အနှောင့်အယှက် ပေးလျက်ရှိသောသူများနှင့် ပဋိညာဉ်ဖွဲ့ဆိုရန်မှာ အသို့လျှင် ဖြစ်နိုင်အံ့နည်း။



၈။ (ယင်းကဲ့သို့ ကတိဖောက်ဖျက်သူတို့၏ ကတိခံဝန်ချက်ကို) အသို့လျှင် ထောက်ထားနိုင်ပါအံ့နည်း။ အမှန်စင်စစ်သော်ကား အကယ်၍သာ ထိုသူတို့သည် အသင်တို့အပေါ်၌ ကြီးစိုးကြပါလျှင် ထိုသူတို့သည် အသင်တို့နှင့် ပတ်သက်၍ ဆွေမျိုးတော်စပ်သည်ကိုလည်းကောင်း၊ ပဋိညာဉ်ဖွဲ့ထားသည်ကိုလည်းကောင်း *ထောက်ထားကြမည် မဟုတ်ပေ။* ၁

كَيْفَ وَإِنْ يَّظْهَرُوْا عَلَيْكُمْ لَا يَرْقُبُوْا فِيْكُمْ إِلًّا وَّلَا ذِمَّةً ۗ يُرْضُوْنَكُمْ بِأَفْوَاهِهِمْ وَتَأْبٰى قُلُوْبُهُمْ ۚ وَأَكْثَرُهُمْ فٰسِقُوْنَ ۞

➤➤ သို့ရာတွင် 'မတ်စ်ဂျိဒေဟရာမ်' ကျောင်းတော်အပါးတွင် မွတ်စ်လင်မ်တို့နှင့် ပဋိညာဉ်ဖွဲ့ဆိုခဲ့ကြသော 'ကိနာနဟ်' မျိုးနွယ်စသည့် အချို့အရဗ်မျိုးနွယ်များသည် ပဋိညာဉ်ပါ စည်းကမ်းချက်များကို မဖောက်မဖျက် စောင့်သိရိုသေလျက် ရှိကြပေရာ မွတ်စ်လင်မ်များသည်လည်း ၎င်းတို့နှင့် ဖွဲ့ဆိုထားသည့် ပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များကို စတင် မဖောက်ဖျက်ကြရာ၊ ၎င်းတို့သည် တည့်မတ်စွာ ရှိကြသမျှကာလပတ်လုံး မွတ်စ်လင်မ်တို့သည်လည်း ၎င်းတို့ထက်ပင် ပိုမို၍ တည့်မတ်စွာရှိကြရမည်ဖြစ်သည်။ မွတ်စ်လင်မ်တို့သည် မိမိတို့၌ စိုးစဉ်းမျှ အမည်းစက် မစွန်းငြိရလေအောင် သာမန်အသေးအဖွဲ ကိစ္စကလေးများ၌ပင်လျှင် သတိကြီးစွာ ထားရှိကြရမည်။ အလွန်အကျွံဟူ၍ အလျင်းမဖြစ်စေကြရ။ အလ္လာဟ်အရှင်မြတ်သည် အရာရာတွင် သတိကြီးစွာဖြင့် စဉ်းစားဆင်ခြင် ရှောင်ကြဉ်ကြကုန်သော သူတော်စင်များအား အထူးနှစ်သက်တော်မူသည်။

'ကိနာနဟ်' မျိုးနွယ်သည် မွတ်စ်လင်မ်များနှင့် ပဋိညာဉ်ဖွဲ့ဆိုခဲ့ကြသည်။ ဖွဲ့ဆိုထားသည့် ပဋိညာဉ်ပါ စည်းကမ်းချက်များကိုလည်း အထူးတလည် ထိန်းသိမ်းစောင့်ရှောက်ခဲ့ကြသည်။ မည်သို့မျှ စည်းကမ်းဖောက်ဖျက် ကျူးလွန်ခဲ့ကြသည်မရှိပေ။ ထို့အတူ မွတ်စ်လင်မ်များသည်လည်း ၎င်းတို့အပေါ်တွင် သစ္စာထားရှိခဲ့ကြပေသည်။ ပဋိညာဉ်ပါ စည်းကမ်းချက်များကိုလည်း ပဋိညာဉ်သက်တမ်းကုန်ဆုံးသည့်တိုင်အောင် ကောင်းမွန်စွာ လိုက်နာခဲ့ကြပေသည်။ အရဗ်မုရှ်ရစ်က်တို့နှင့် တာဝန်ကင်းကြောင်း ကြေငြာချက်ထုတ်ပြန်သည့်အချိန်တွင် 'ကိနာနဟ်' မျိုးနွယ်တို့နှင့် ဖွဲ့ဆိုထားသည့် ပဋိညာဉ်သက်တမ်းမှာ ကုန်ဆုံးရန် ၉-လသာ ကျန်ရှိပေတော့သည်။ မွတ်စ်လင်မ်များ သည် ထို ၉-လကုန်ဆုံးသည့်တိုင်အောင် ပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များကို တသွေမတိမ်း လိုက်နာ ဆောင်ရွက်ခဲ့ကြပေသည်။

ပဋိညာဉ်ကို ချိုးဖောက်ခဲ့သော မုရှ်ရစ်က်များဟူသည် ပထမအုပ်စုကိုဆိုလိုသည်။ ပဋိညာဉ်ပါ စည်းကမ်းချက်များကို ချိုးဖောက်ခြင်းမပြုခဲ့သော မုရှ်ရစ်က်များဟူသည် ဒုတိယအုပ်စုကို ဆိုလိုသည်။

ကြည့် - ထာနဝီ။

၁ ဤအာယတ်တော်သည် အရဗ်မုရှ်ရစ်က်တို့အနက် ပထမအုပ်စုကို ရည်ညွှန်းမိန့်ဆိုထားတော်မူသော အာယတ်တော်ဖြစ်သည်။ (ကြည့် - ထာနဝီ)

'အစ်လ်လု' ဟူသည် သာဝကကြီး အစ်ဗ်နုအဗ္ဗားစ် (ရသွေ့ယလ္လာဟုဟို တအာလာအန်ဟု) သခင်ထံမှ တဆင့် ကြားသိရသော ကျမ်းချက်အရ ဆွေမျိုးတော်စပ်မှုကို ဆိုလိုသည်။ သွဂ်ဟာက်ကလည်း ဤသည့်အဆိုကို နှစ်ခြိုက်လေသည်။ (ရှုဟ်)

ၑင်းတို့သည်အသင်တို့အား မိမိတို့၏နှုတ်များ ဖြင့်သာလျှင် နှစ်သိမ့်စေကြကုန်သည်။ သို့ရာတွင် ၎င်းတို့၏စိတ်နှလုံးများမှာမူကား (၎င်းတို့၏နှုတ်မှ ပြောဆိုချက်တို့ကို) ငြင်းပယ်လျက်ရှိကြကုန်သတည်း။ စင်စစ် ၎င်းတို့အနက် အများစုတို့မှာကား *စည်းကမ်း ဖောက်ဖျက်သူများသာ*[၁] ဖြစ်ကြကုန်သည်။

اشْتَرَوْا بِآيَاتِ اللَّهِ ثَمَنًا قَلِيلًا فَصَدُّوا عَن سَبِيلِهِ ۚ إِنَّهُمْ سَاءَ مَا كَانُوا يَعْمَلُونَ ٩

**၉။** ၎င်းတို့သည် အလ္လာဟ် အရှင်မြတ်၏ အာယတ်တော်များဖြင့် အနည်းငယ်မျှသောအဖိုးငွေကို လဲလှယ်ဝယ်ယူခဲ့ကြလေသည်။ သို့ဖြစ်ပေရာ ၎င်းတို့ သည် ထိုအရှင်မြတ်၏လမ်းတော်မှ ဖောက်ပြန်သွေ ချော် တိမ်းစောင်းလျက်ရှိခဲ့ကြကုန်၏။ ဧကန်စင်စစ် ၎င်းတို့ပြုမူသမျှတို့ကား အလွန်ဆိုးရွားလှပေသတည်း။

لَا يَرْقُبُونَ فِي مُؤْمِنٍ إِلًّا وَلَا ذِمَّةً ۚ وَأُولَٰئِكَ هُمُ الْمُعْتَدُونَ ١٠

**၁၀။** ၎င်းတို့သည် မည်သည့် "မုအ်မင်န်" သက်ဝင် ယုံကြည်သူ တဦးတယောက်နှင့်မျှ ပတ်သက်၍ ဆွေမျိုးတော်စပ်မှုကိုလည်းကောင်း၊ ပဋိညာဉ်ထားရှိမှု ကိုလည်းကောင်း၊ ထောက်ထားကြသည်မဟုတ်ပေ။ အမှန်သော်ကား ၎င်းတို့သည်ပင်လျှင် လွန်ကျူးသူများ ဖြစ်ကြကုန်သတည်း။

فَإِن تَابُوا وَأَقَامُوا الصَّلَاةَ وَآتَوُا الزَّكَاةَ فَإِخْوَانُكُمْ فِي الدِّينِ ۗ وَنُفَصِّلُ الْآيَاتِ لِقَوْمٍ يَعْلَمُونَ ١١

**၁၁။** သို့ရာတွင် အကယ်၍ ထိုသူတို့သည် (မိမိတို့ ၏အယူဝါဒများကိုစွန့်လွှတ်ကာ "အီမာန်" ယုံကြည် ခြင်းသဒ္ဓါတရားထားရှိခြင်းအားဖြင့်) ဝန်ချတောင်းပန် ၍ ဆွလာတ် ဆောက်တည်ခြင်းကိုလည်းကောင်း၊ ဇကာတ် တရားဝင်ဒါနကြေးပေးဆောင်ခြင်းကိုလည်း

---

(၁) ဤအာယတ်တော်တွင် ပါရှိသော 'ဖာစိကူးန' ဟူသည် ကတိသစ္စာကို ဖောက်ဖျက်သူများကိုဆိုလိုသည်။ ကာဖိရ်တိုင်းသည် ဖာစစ်က်ဖြစ်သည်။ သို့ရာတွင် ဤအာယတ်တော်တွင် စက်ဆုပ်ဖွယ်ရာ မကောင်းမှုများ၊ အထူးသဖြင့် ကတိသစ္စာဖောက်ဖျက်မှုကို အတည့်အလင်း ကျူးလွန်သူများကို ဆိုလိုသည်။ ကုရ်တုဗီ။

ကောင်း ပြုခဲ့ကြပါလျှင်၊ ထိုသူတို့သည် ဒီန်သာသနာရေးတွင် အသင်တို့၏ *ညီသားအစ်ကိုများပင် ဖြစ်ကြကုန်သည်။* [၁] အမှန်သော်ကား ငါအရှင်မြတ်သည် (မိမိ) အာယတ်တော်များကို သိနားလည်သူတို့အဖို့ အသေးစိတ်ထုတ်ဖော် မိန့်ကြားတော်မူလေသတည်း။

وَإِن نَّكَثُوٓا۟ أَيْمَـٰنَهُم مِّنۢ بَعْدِ عَهْدِهِمْ وَطَعَنُوا۟ فِى دِينِكُمْ فَقَـٰتِلُوٓا۟ أَئِمَّةَ ٱلْكُفْرِ ۙ إِنَّهُمْ لَآ أَيْمَـٰنَ لَهُمْ لَعَلَّهُمْ يَنتَهُونَ ⑫

၁၂။ တဖန် အကယ်၍ ထိုသူတို့သည် ကတိသစ္စာထားရှိပြီးနောက်သော်မှပင် မိမိတို့ ထားရှိကြကုန်သောကတိသစ္စာများကို ဖောက်ဖျက်ခြင်းကိုလည်းကောင်း၊ အသင်တို့၏ဒိန်သာသနာနှင့် စပ်လျဉ်း၍ ကဲ့ရဲ့ရှုတ်ချ (အမနာပ)ပြောဆိုခြင်းကိုလည်းကောင်း၊ ပြုခဲ့ကြပါလျှင် အသင်တို့သည် ကုဖ်ရ်မယုံမကြည်သွေဖည် ငြင်းပယ်မှုကို ခေါင်းဆောင်သော ရှေ့ဆောင်တို့အားငင်းတို့သည် (မိမိတို့၏အယူဝါဒများမှ) ရပ်စဲသွားကြအံ့သောငှာ တိုက်ခိုက်ကြလေကုန်။ အကြောင်းသော်ကား ၎င်းတို့၌ *ကတိသစ္စာများမရှိသောကြောင့်ပင်။* [၂]

(၁) အကယ်၍ မုရှိရစ်က်များသည် ကုဖ်ရ်၊ ရှစ်ရ်စ်က်၏ အယူဝါဒများကို စွန့်လွှတ်၍ အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ကာ အခြားမွတ်စ်လင်မ်များကဲ့သို့ အစ္စလာမ်သာသနာ၏ အဆုံးအမများကို လက်တွေ့လိုက်နာကျင့်သုံးကြလျှင်၊ ၎င်းတို့၏ အပြုအမူများကို ထောက်ထားပြီး ၎င်းတို့အား သာသနာရေးတွင် ညီနောင်များဟူ၍ပင် ယူဆရပေမည်။ အခြားမွတ်စ်လင်မ်များနှင့် ဆက်ဆံသကဲ့သို့ပင် ၎င်းတို့နှင့်လည်း ဆက်ဆံရပေမည်။ ယခင်က ၎င်းတို့ ကျူးလွန်ခဲ့ကြသော ကတိသစ္စာချိုးဖောက်မှုစသည့် ပြစ်မှုတို့ကို ကြည့်ရှုရန် မလိုပေ။ ၎င်းတို့၏ စိတ်အတွင်းတွင် မည်သို့ရှိသည်ကို လူသားများမသိနိုင်ပေ။ အလ္လာဟ်အရှင်မြတ်အား လွှဲပုံရမည်သာ ဖြစ်ပေသည်။

(၂) ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် မိမိတို့ ချုပ်ဆိုထားခဲ့ကြသည့် ပဋိညာဉ်ကိုချိုးဖောက်၍ "ဗနူခုဇာအဟ်" ကို တိုက်ခိုက်ရာတွင် "ဗနူဗက်ရ်" အား အားပေးကူညီ ပြုလုပ်ခဲ့ကြပေသည်။ ဤအာယတ်တော်တွင် ဤသည့်အချက်ကိုပင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

မိမိတို့ ထားရှိသော ကတိသစ္စာကို ချိုးဖောက်ကြရုံမျှမက အစ္စလာမ် သာသနာတော်နှင့် စပ်လျဉ်း၍ ဆဲရေးတိုင်းထွာပြောဆိုသော ကုဖ်ရ်၏ ရှေ့ဆောင်ရှေ့ရပ်တို့အား တိုက်ခိုက်သတ်ဖြတ်ပစ်ကြရမည်သာ ဖြစ်သည်။

ဤအာယတ်တော်တွင် "ကုဖ်ရ်၏ ရှေ့ဆောင်ရှေ့ရပ်များ" ဟု သီးသန့် ထုတ်ဖော်မိန့်ဆိုထားတော်မူခြင်း၏အကြောင်းရင်းမှာ ထိုရှေ့ဆောင်ရှေ့ရပ်များသည်ပင်လျှင် တပည့်နောက်လိုက်တို့အား ကုဖ်ရ်သွေဖည်ငြင်းပယ်မှုပေါ်တွင် တည်ရှိနေကြရန် လှုံ့ဆော်သမှု ပြုကြခြင်းကြောင့်ဖြစ်သည်။ ဗဟ်ရ်။

أَلَا تُقَاتِلُونَ قَوْمًا نَّكَثُوا أَيْمَانَهُمْ وَهَمُّوا بِإِخْرَاجِ الرَّسُولِ وَهُم بَدَءُوكُمْ أَوَّلَ مَرَّةٍ ۚ أَتَخْشَوْنَهُمْ ۚ فَاللَّهُ أَحَقُّ أَن تَخْشَوْهُ إِن كُنتُم مُّؤْمِنِينَ ﴿١٣﴾

၁၃။ အသင်တို့သည် အကြင်အမျိုးသားတို့အား အဘယ်ကြောင့် မတိုက်ခိုက်ကြသနည်း။ ထိုအမျိုးသားတို့သည် မိမိတို့၏ကတိသစ္စာကိုလည်း ဖောက်ဖျက်ခဲ့ကြကုန်၏။ ထို့ပြင် ၎င်းတို့သည် တမန်တော်မြတ် (မုဟမ္မဒ်)အား (မက္ကာမြို့မှ) နှင်ထုတ်ရန်လည်း သန္နိဋ္ဌာန်ချခဲ့ကြကုန်၏။ ထိုမှတပါး ၎င်းတို့သည် ပင်လျှင် အသင်တို့အား ဦးစွာပထမ *စတင်တိုက်ခိုက်ခဲ့ကြကုန်၏။* [၁] အသင်တို့သည် ၎င်းတို့အား ကြောက်ရွံ့ကြလေသလော၊ စင်စစ်တမူကား အကယ်၍အသင်တို့သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူများဖြစ်ကြလျှင် အလ္လာဟ်အရှင်မြတ်အား ပိုမို၍ပင် ကြောက်ရွံ့ထိုက်ပေသတည်း။

---

(၁) ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် မိမိတို့ ကျိန်ဆိုထားသည့် ကျိန်ဆိုချက်များကိုလည်းကောင်း၊ မိမိတို့ကိုယ်တိုင် သဘောတူချုပ်ဆိုထားသည့် ပဋိညာဉ်ပါစာချုပ်များကိုလည်းကောင်း၊ ချိုးဖောက်ခဲ့ကြလေသည်။ ဥပမာ- ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် မိမိတို့ချုပ်ဆိုထားသည့် ပဋိညာဉ်စာချုပ်ကို ချိုးဖောက်ကာ ခုဇာအဟ်မျိုးနွယ်အား ဆန့်ကျင်၍ ဗနူဗတ်က်ရ်မျိုးနွယ်ကို ကူညီရိုင်းပင်းခဲ့ကြသည်။ ဟစ်ဂျရတ်အလျှင် တမန်တော်မြတ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)အား မက္ကာမြို့တော်မှနှင်ထုတ်ရန် အမျိုးမျိုး ကြံစည်အားထုတ်ခဲ့ကြလေသည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) မက္ကာမြို့တော်မှ ထွက်ခွာသွားတော်မူခဲ့ရသည့် အကြောင်းမှာလည်း ယင်းကုရိုက်ရှ်မျိုးနွယ်ကြောင့်ပင်ဖြစ်သည်။ ဤအကြောင်း ကုရ်အာန်ကျမ်းမြတ် (၈း၃၀။ ၉း၄၀။ ၁၇း၇၆။ ၆၀း၁)တို့တွင် မိန့်ဆိုထားတော်မူသည်။

ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် မက္ကာမြို့တော်တွင် အပြစ်မဲ့သော မွတ်စ်လင်မ်တို့အား အကြောင်းမဲ့ စတင်ကျူးကျော် စော်ကားခဲ့ကြလေသည်။ အဗူစွဖ်ယာန် ခေါင်းဆောင်ခဲ့သော ကုန်သည်များ လွတ်မြောက်သွားသည့်အချိန်တွင် ယင်းကုရိုက်ရှ်မျိုးနွယ်ဝင်များသည်ပင်လျှင် မာန်မာနမောက်မာ ထောင်လွှားကာ မွတ်စ်လင်မ်တို့အား စတင်တိုက်ခိုက်ရန် ဗဒ်ရ်စစ်မြေပြင်သို့ သွားရောက်ခဲ့ကြလေသည်။ ထို့ပြင်တဝ ယင်းကုရိုက်ရှ်မျိုးနွယ်ဝင်များသည် 'ဟုဒိုင်ဗိယဟ်' တွင် ငြိမ်းချမ်းရေးစာချုပ် ချုပ်ဆိုပြီးနောက် မိမိတို့ကိုယ်တိုင် အဆိုပါ ပဋိညာဉ်စာချုပ်ကို စတင် ချိုးဖောက်ကာ မွတ်စ်လင်မ်တို့၏ မဟာမိတ်ဖြစ်သော 'ခုဇာအဟ်' ကို ဆန့်ကျင်၍ 'ဗနူဗတ်က်ရ်' အား အကူအညီပေးခဲ့ကြလေသည်။ လက်နက်များ ထုတ်ပေးခဲ့ကြလေသည်။ နောက်ဆုံးတွင် မွတ်စ်လင်မ်များသည် ယင်းသို့သော ကုရိုက်ရှ်မျိုးနွယ်ဝင်တို့အား တိုက်ခိုက်၍ မက္ကာမြို့တော်ကို ပြန်လည်သိမ်းပိုက်ခဲ့ကြလေသည်။ ဤအာယတ်တော်တွင် ယင်းကုရိုက်ရှ်မျိုးနွယ်ဝင်များကဲ့သို့သော ဆိုးမိုက်လျက်ရှိသော မျိုးနွယ်ဝင်များကို တိုက်ခိုက်ရာ၌ အနည်းငယ် စိုးစဉ်းမျှ စနောင့်စနင်း ဖြစ်စရာမလိုပေ။ အကယ်၍ ၎င်းတို့၏ အင်အားများပြားသည်ကို စိုးရိမ်လျှင် မွတ်စ်လင်မ်များသည် အရာခပ်သိမ်းတို့ထက် အလ္လာဟ်အရှင်မြတ် ➤➤

قَاتِلُوهُمْ يُعَذِّبْهُمُ اللَّهُ بِأَيْدِيكُمْ وَيُخْزِهِمْ وَيَنصُرْكُمْ عَلَيْهِمْ وَيَشْفِ صُدُورَ قَوْمٍ مُّؤْمِنِينَ ﴿١٤﴾

၁၄။ အသင်တို့သည် ၎င်းတို့အား တိုက်ခိုက်ကြလေကုန်။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား အသင်တို့၏လက်များဖြင့် ပြစ်ဒဏ်ပေးတော်မူမည်ဖြစ်၏။ ၎င်းပြင် ထိုအရှင်မြတ်သည် ယင်းတို့အား အရှက်ရစေတော်မူမည်လည်းဖြစ်၏။ ထို့မှတပါး ထိုအရှင်မြတ်သည် အသင်တို့အား ၎င်းတို့အပေါ်၌ အောင်မြင်စေတော်မူမည်လည်း ဖြစ်၏။ ထို့ပြင် ထိုအရှင်မြတ်သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့၏ စိတ်နှလုံးများကို အေးချမ်းစေတော်မူမည်လည်း ဖြစ်ချေသတည်း။

وَيُذْهِبْ غَيْظَ قُلُوبِهِمْ ۗ وَيَتُوبُ اللَّهُ عَلَىٰ مَن يَشَاءُ ۗ وَاللَّهُ عَلِيمٌ حَكِيمٌ ﴿١٥﴾

၁၅။ ၎င်းပြင် ထိုအရှင်မြတ်သည် ထို(သက်ဝင်ယုံကြည်)သူတို့၏ စိတ်နှလုံးများမှ ဒေါသအမျက်ကိုလည်း ပပျောက်စေတော်မူမည်ဖြစ်၏။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူ၏ဘက်သို့လည်း ကရုဏာတော်နှင့် ပြန်လှည့်တော်မူမည်ဖြစ်၏။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသောအရှင်၊ နက်နဲသိမ်မွေ့သောဉာဏ်အမြော်အမြင်နှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။ [၁]

---

➤➤ ကိုသာ ကြောက်ရွံ့သင့်ပေသည်။ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့မှုသည် စိတ်တွင်း၌ သက်ရောက်လျှင် အခြားအကြောက်သည် အလိုအလျောက် ပပျောက်သွားပေသည်။ မွတ်စ်လင်မ်များသည် အလ္လာဟ်အရှင်မြတ်အား သွေဖည်မှုမှ ရှောင်ကြဉ်ကြရပေမည်။ ထိုအရှင်မြတ်၏ အမျက်တော်စူးရှခြင်းကို အမြဲတစေ ကြောက်ကြရပေမည်။ အဘယ်ကြောင့်ဆိုသော် အကျိုးပြုခြင်း၊ အကျိုးယုတ်စေခြင်းသည် ထိုအရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ ထိုအရှင်မြတ်၏ အလိုတော်မပါပဲလျက် မည်သူတဦးတယောက်မျှ စိုးစဉ်းမျှ အကျိုးပြုနိုင်သည်လည်းမဟုတ်၊ အကျိုးယုတ်စေနိုင်သည်လည်း မဟုတ်ပေ။

(၁) ဤအာယတ်တော်တွင် 'ဂျိဟာဒ်' ကို တရားတော်ဝင် အမိန့်တော်တရပ်အဖြစ် သတ်မှတ်ပြဋ္ဌာန်းတော်မူခြင်း၏ ကျိုးကြောင်းကို ဖွင့်ဟမိန့်ဆိုထားတော်မူသည်။ ကုရ်အာန်ကျမ်းတော်မြတ်တွင် လာရှိသော အတိတ်ခေတ်အမျိုးသားတို့၏ အတ္ထုပ္ပတ္တိများကို ထောက်ရှုခြင်းအားဖြင့် လူမျိုးတမျိုးသည် သွေဖည်ငြင်းပယ်မှုတွင်လည်းကောင်း၊ ဆိုးသွမ်းမှုတွင်လည်းကောင်း၊ တမန်တော်မြတ်များအား မုသာဝါဒီများဟု ပြောဆိုရာတွင်လည်းကောင်း၊ ➤➤

➤➤ မနာလိုမုန်းတီးရာတွင်လည်းကောင်း၊ စည်းမဲ့ကမ်းမဲ့ အလွန်အကျွံ ဖြစ်လာသည့်အခါ အလ္လာဟ်အရှင်မြတ်၏ထံတော်မှ ဆုံးရှုံးပျက်စီးစေသည့် ပြစ်ဒဏ်တော်တရပ်ရပ်သည် ထိုအမျိုးသားများအပေါ်သို့ ကျရောက်လာလေ့ရှိသည်။ ယင်းသို့ ကျရောက်လာသည့်အခါ ထိုအမျိုးသားများ၏ သွေဖည်မှုများနှင့် ကျူးကျော် စော်ကားမှုအားလုံးတို့သည် ရုတ်တရက် ပျောက်ပျက်၍ သွားလေသည်။ ဤသည့်အကြောင်းကို ကုရ်အာန်ကျမ်း (၂၉း၄၀)တွင် အောက်ပါအတိုင်း မိန့်ဆိုထားတော်မူသည်။

“ဤသို့သော ပြစ်ဒဏ်များသည် အလွန်တရာမှုပြင်းထန်သော ပျက်စီးဆုံးရှုံးစေတတ်သော ပြစ်ဒဏ်များဖြစ်သည့်အပြင် နောင်လာနောင်သားတို့အဖို့ နောင်တတရားရဖွယ်ရာလည်း ဖြစ်ပေသည်။ သို့ရာတွင် ဤသို့သော ပြစ်ဒဏ်များကျရောက်ရာ၌ ပြစ်ဒဏ်တော်တပ်ရိုက်ခြင်းခံရသော အမျိုးသားများသည် ဤဘဝ၌ အသက်ထင်ရှားရှိပြီး မိမိတို့၏ ဂုဏ်အင်သေးသိမ်မှု၊ အရှက်တကွဲ အကျိုးနည်းဖြစ်မှုများကို မိမိတို့ကိုယ်တိုင် တွေ့မြင်ခွင့်မရရှိကြပေ။ နောက်နောင် အခါများတွင်လည်း ဝန်ချတောင်းပန်ရန် အခွင့်အလမ်းများ မကျန်ရှိပေ။”

‘ဂျိဟာဒ်’ ကို တရားတော်ဝင် အမိန့်တော်တရပ်အဖြစ် သတ်မှတ်ပြဋ္ဌာန်းတော်မူခြင်း၏ အဓိကရည်ရွယ်ချက်မှာ သွေဖည်ငြင်းပယ်သော၊ မောက်မာပလွှားသော၊ နှိပ်စက်ညှဉ်းပန်းသော၊ ဆိုးသွမ်းမိုက်မဲသော ကာဖိရ် မယုံမကြည် သွေဖည်ငြင်းပယ်သူတို့အား အလ္လာဟ်အရှင်မြတ်သည် တိုက်ရိုက် ပြစ်ဒဏ်ပေးတော်မူခြင်းအစား မိမိ၏သစ္စာတော်ခံ၊ အမိန့်တော်နာခံသော သူတော်စင်တို့၏လက်ဖြင့် အပြစ်ဒဏ်ပေးတော်မူရန်ပင်ဖြစ်သည်။ ဤသို့ ပြစ်ဒဏ်ပေးတော်မူခြင်းအားဖြင့် ပြစ်မှုကျူးလွန်သော သူယုတ်မာတို့သည် အရှက်တကွဲ အကျိုးနည်းဖြစ်ကြရသည်။ အမိန့်တော်နာခံသော သူတော်စင်များအား အားပေးချီးမြှင့်ရာလည်း ရောက်သည်။ အမိန့်တော်နာခံသော သူတော်စင်များ၏ အောင်နိုင်မှုမှာလည်း အထင်အရှားပေါ်လွင်လာသည်။ ထို့ပြင်တဝ သူတော်စင်များသည် ယမန်နေ့ကအထိ မိမိတို့အား အထင်အမြင်သေးခဲ့ကြသော နှိပ်စက်ညှဉ်းပန်းခဲ့ကြသော သူယုတ်မာများမှာ ယနေ့ အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ဖြင့် မိမိတို့၏ သနားမှု၊ ကြင်နာမှု၊ မျှတမှုများအပေါ်၌ အသက်ရှင်နေကြရသူများအဖြစ် တွေ့မြင်ကြရသောအခါ အဆိုပါသူတော်စင်များ၏ စိတ်နှလုံးများသည် ကြည်လင်လာပေသည်။ ကာဖိရ်တို့၏ အရှိန်အဝါကိုကြည့်ပြီး အချို့သူတော်စင်များသည် စိတ်နှလုံး မသာမယာ ဖြစ်ခဲ့ကြရသည်။ အချို့အားအင်ချိနဲ့သော နှိပ်စက်ညှဉ်းပန်းခြင်းခံရသော မွတ်စ်လင်မ်များသည် ကာဖိရ်များ၏ ညှဉ်းပန်းမှုများကို တုံ့ပြန်လက်စား မချေနိုင်ခဲ့ကြသည့်အတွက် စိတ်တွင် အမျက်ဒေါသကို ချုပ်တည်းမျိုသိပ်ကာ နေခဲ့ကြရသည်။ ယခုအလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ “ဂျိဟာဒ်” ပြုရန် အခွင့်ရရှိသဖြင့် ထိုထိုသော မွတ်စ်လင်မ်များ၏ စိတ်နှလုံးများသည် အေးချမ်းသာယာ ရွှင်လန်းချမ်းမြေ့လာခဲ့ပေသည်။

ဤသို့ပြစ်ဒဏ်ပေးတော်မူခြင်းဖြင့် ပြစ်ဒဏ်တပ်ရိုက်ခြင်းခံရသော သူများအဖို့လည်း တနည်းအားဖြင့် အကျိုးရှိပေသည်။ အဘယ်ကြောင့်ဆိုသော် ပြစ်ဒဏ်တပ်ရိုက်ခြင်းခံရပြီးသည့် နောက်ပိုင်းတွင်လည်း ၎င်းတို့သည် ဝန်ချတောင်းပန်နိုင်ကြပေသည်။ တရားလမ်းမှန်ဘက်သို့ ပြန်လည်ရောက်ရှိလာနိုင်ကြပေသည်။ ဤသည့် အခွင့်အလမ်းများသည် ၎င်းတို့အတွက် ပွင့်လျက်ပင် ရှိပေသည်။ ထိုသို့ ပြစ်ဒဏ်တပ်ရိုက်ခြင်းခံရသော သူများသည် ပတ်ဝန်းကျင်အခြေအနေ အဖြစ်အပျက်များကို စဉ်းစားဆင်ခြင်၍ သတိသံဝေဂရကာ တရားလမ်းမှန် ဘက်သို့ ရောက်ရှိလာနိုင်ကြပေသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) လက်ထက်တော် တွင်လည်း ဤအတိုင်းပင် ဖြစ်ခဲ့ပေသည်။ ရက် အနည်းငယ် အတွင်းမှာပင် အာရေဗျ တနိုင်ငံလုံးသည် စိတ်စေတနာဖြူစင်စွာဖြင့် အလ္လာဟ်အရှင်မြတ်၏ သာသနာတော် ဘောင်အတွင်းသို့ ရောက်ရှိလာခဲ့ ကြသည်မှာ အထင်အရှားပင် ဖြစ်ပေသည်။

أَمْ حَسِبْتُمْ أَن تُتْرَكُوا وَلَمَّا يَعْلَمِ اللَّهُ الَّذِينَ جَاهَدُوا مِنكُمْ وَلَمْ يَتَّخِذُوا مِن دُونِ اللَّهِ وَلَا رَسُولِهِ وَلَا الْمُؤْمِنِينَ وَلِيجَةً ۚ وَاللَّهُ خَبِيرٌ بِمَا تَعْمَلُونَ ﴿١٦﴾

၁၆။ အသင်တို့သည် မိမိတို့မှာ(စမ်းသပ်ခြင်းမခံရပဲ အေးချမ်းစွာ) စွန့်လွှတ်ထားခြင်းကို ခံကြရလိမ့်မည်ဟု ထင်မြင်ယူဆကြပါသလော။ အမှန်သော်ကား အလ္လာဟ် အရှင်မြတ်သည် (ယခုထက်တိုင်) အသင်တို့အနက်မှ (ထိုအရှင်မြတ်၏ လမ်းတော်၌) စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်သူတို့အား လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်နှင့် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့ အပြင် အခြားသူတို့ကို ချစ်ကျွမ်းတဝင် မပြုကြသောသူတို့အားလည်းကောင်း၊ *သိ (မြင်)တော်မမူသေးချေ။* [၁] စင်စစ်တမူကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ပြုမူသမျှတို့ကို အကြွင်းမဲ့ ကြားသိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) ဤအာယတ်တော်တွင်လည်း 'ဂျိဟာဒ်' ကို တရားတော်ဝင် အမိန့်တော်တရပ်အဖြစ် သတ်မှတ်ပြဋ္ဌာန်းတော်မူထားသည့် ကျိုးကြောင်းကိုပင် မိန့်ဆိုထားတော်မူသည်။ "အီမာန် ယုံကြည်ပါသည်" "အမိန့်တော် နာခံပါသည်" "ခဝပ်ကိုးကွယ်ပါသည်" ဟု နှုတ်ဖြင့် ပြောဆိုသူများ အမြောက်အမြား ရှိကြပေသည်။ သို့ရာတွင် စမ်းသပ်တော်မူခြင်းတည်းဟူသော မှတ်ကျောက်ပေါ်တွင်တင်၍ မကြည့်သမျှကာလပတ်လုံး အမှားနှင့်အမှန်၊ အကောင်းနှင့်အညံ့ ခွဲခြားစွာ မသိနိုင်ပေ။

ထို့အတွက်ကြောင့်ပင် မှတ်ကျောက်တင်ကြည့်နိုင်ရန်အတွက် ဂျိဟာဒ် ကို သတ်မှတ်ပြဋ္ဌာန်းတော်မူ၍ မွတ်စ်လင်မ်တို့အနက် အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ မိမိတို့၏ အသက်နှင့် ဥစ္စာပစ္စည်းကို စွန့်လှူသောသူများ အဘယ်မျှရှိကြသည်။ အလ္လာဟ်အရှင်မြတ်၊ တမန်တော်မြတ်နှင့် မွတ်စ်လင်မ်တို့မှတပါး အခြား မည်သူတဦးတယောက်ကိုမျှ အဘယ်မျှပင် နီးစပ်ရင်းချာသော ဆွေမျိုးသားချင်း ဖြစ်နေသော်လည်း Intimate အတွင်းအကျဆုံးသော မိတ်ဆွေရင်းချာ မပြုလုပ်သောသူများ အဘယ်မျှ ရှိကြသည်ကို အလ္လာဟ်အရှင်မြတ်သည် လက်တွေ့သိမြင်တော်မူရန် လိုပေသည်။ ဤသည် မှတ်ကျောက်ပင် ဖြစ်သည်။ ဤမှတ်ကျောက်ပေါ်တွင် မုအ်မင်န်တို့၏ အီမာန်ကို တင်၍ ကြည့်ရှုစမ်းသပ်ရသည်။

ကာယကံမြောက် ဂျိဟာဒ် မပြုလုပ်ကြသမျှ ကာလပတ်လုံး နှုတ်ဖြင့်သာပြောဆိုနေရုံမျှဖြင့် အောင်မြင်မှုသည် မရရှိနိုင်ပေ။ ထို့ပြင်တဝ ကာယကံမြောက်ပြုလုပ်သော အပြုအမူများအနက် စိတ်စေတနာ ဖြူစင်စွာဖြင့် ပြုလုပ်သော အပြုအမူနှင့် ပြစားရန်အတွက်ပြုလုပ်သော အပြုအမူများကို အလ္လာဟ်အရှင်မြတ်သည် အကြွင်းမဲ့ ခွဲခြားသိတော်မူပြန်ရာ အပြုအမူများ၏ အကျိုးကိုလည်း စိတ်စေတနာ ဖြူစင်ပါက ဖြူစင်သည့်အလျောက်၊ မဖြူစင်ပါက မဖြူစင်သည့်အလျောက်၊ ပေးတော်မူမည်သာဖြစ်ပေသည်။

مَا كَانَ لِلْمُشْرِكِيْنَ اَنْ يَّعْمُرُوْا مَسٰجِدَ اللّٰهِ شٰهِدِيْنَ عَلٰۤى اَنْفُسِهِمْ بِالْكُفْرِ ؕ اُولٰٓئِكَ حَبِطَتْ اَعْمَالُهُمْ ۚۖ وَ فِى النَّارِ هُمْ خٰلِدُوْنَ ﴿١٧﴾

၁၇။ "မုရှ်ရစ်က်" တို့၌ ၎င်းတို့သည် မိမိတို့ "ကာဖိရ်" ဖြစ်ကြောင်း ဝန်ခံလျက် ရှိနေကြစဉ် အလ္လာဟ်အရှင်မြတ်၏ ဗလီကျောင်းတော်များကို သာယာစည်ကားအောင် ပြုလုပ်ရန် *အရည်အချင်းမရှိချေ။* [၁] ၎င်းတို့သည် အကြင်သူများပင်တည်း။ ထိုသူတို့၏ အပြုအမူများသည် အချည်းနှီးဖြစ်ခဲ့ကြသည့်ပြင် ထိုသူတို့သည် *ငရဲမီး၌ ထာဝစဉ် နေထိုင်ကြရမည့်သူများပင် ဖြစ်ကြကုန်သတည်း။* [၂]

اِنَّمَا يَعْمُرُ مَسٰجِدَ اللّٰهِ مَنْ اٰمَنَ بِاللّٰهِ وَالْيَوْمِ الْاٰخِرِ وَاَقَامَ الصَّلٰوةَ وَاٰتَى الزَّكٰوةَ وَلَمْ يَخْشَ اِلَّا اللّٰهَ فَعَسٰۤى اُولٰٓئِكَ اَنْ يَّكُوْنُوْا مِنَ الْمُهْتَدِيْنَ ﴿١٨﴾

၁၈။ အလ္လာဟ်အရှင်မြတ်၏ ဗလီကျောင်းတော်များကို အကြင်သူတို့သည်သာလျှင် စည်ကားသာယာအောင် ပြုနိုင်ကြပေသည်။ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်ကိုလည်းကောင်း၊ နောက်ဆုံးနေ့ကိုလည်းကောင်း၊ ယုံကြည်ကြသည့်ပြင် ထိုသူတို့သည် ဖွဲမြဲစွာ 'ဆွလာတ်' ဝတ်ပြုမှုကိုလည်းကောင်း၊ 'ဇကာတ်' တရားဝင်ဒါနကြေး ပေးဆောင်ခြင်းကိုလည်းကောင်း၊ ပြုကြကုန်သည်။ ထိုမှတပါး အလ္လာဟ်အရှင်မြတ်အပြင် မည်သူတဦးတယောက်ကိုမျှ ကြောက်ရွံ့ကြသည်လည်း မရှိချေ။ သို့ဖြစ်ပေရာ ၎င်းတို့သည် တရားလမ်းမှန် ရရှိကြမည်ဖြစ်သည်။

---

(၁) ကုရ်အာန်ကျမ်းမြတ် (၉း၁၆)တွင် မွတ်စ်လင်မ်များသည် စမ်းသပ်တော်မူခြင်းမခံရပဲ အေးချမ်းစွာ လွှတ်ထားခြင်း ခံရမည်မဟုတ်ကြောင်း၊ မွတ်စ်လင်မ်များသည် အလွန်ကြီးလေးသော တာဝန်များ၊ ဥပမာ ဂျိဟာဒ် အစရှိသည့် တာဝန်များတွင် တည်ကြည်မှု ရှိမရှိ၊ ထို့ပြင်တဝ လောကီသံယောဇဉ်များကို အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်၏ အမိန့်ညွှန်ကြားဝါဒတော်များရှေ့တွင် ဖြတ်တောက်နိုင်မှု ရှိမရှိ ကြည့်ရှုစမ်းသပ်တော်မူမည့်အကြောင်း ပါရှိခဲ့လေသည်။ ယခု ဤအပိုဒ်တွင် အလ္လာဟ်အရှင်မြတ်၏ 'မတ်စ်ဂျစ်ဒ်' ဗလီကျောင်းတော်များကို ဤကဲ့သို့သော သာသနာ့အာဇာနည်များ အစစ်ခံပါရမီရှင်များသည်သာလျှင် စည်ကားသာယာအောင် ပြုလုပ်နိုင်ကြသည့် အကြောင်း မိန့်ဆိုထားတော်မူသည်။

'မတ်စ်ဂျစ်ဒ်' ဗလီကျောင်းများ၏ စည်ကားသာယာမှုမှာ အမှန်အားဖြင့် ထိုဗလီကျောင်းများတွင် တဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ခြင်းသည် ရှိသင့်ရှိအပ်ရှိထိုက်သည့် အတိုင်းရှိစေရမည်။ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရသောသူများ များပြားစွာ ရှိစေရမည်။ ➢➢

➤➤ အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ရာ၌ အနှောင့်အရှက် အဟန့်အတား အလျှင်းမရှိစေရ။ ဗလီကျောင်းတော်များတွင် မဖွယ်ရာသော ကိစ္စများ သေးနုပ်သိမ်ဖျင်းသော ကိစ္စများမလျော်ကန်သော ကိစ္စများ အလျှင်းမရှိစေရ။ ဤသည်ကိစ္စများကို ကာဖိရ်၊ မုရှ်ရစ်က်တို့သည် အသို့လျှင် ဆောင်ရွက်နိုင်ကြအံ့နည်း။

ကာဖိရ်၊ မုရှ်ရစ်က်များက "၎င်းတို့သည် 'မတ်စ်ဂျစ်ဒ်ဒိဟရာမ်' ကျောင်းတော်၏ 'မုတဝလ်လီ' ဂေါပကများ ဝေယျာဝစ္စပြုလုပ်သူများ ဖြစ်ကြသည်" ဟု ကြွားဝါပြောဆိုခဲ့ကြသည်။ သို့ရာတွင် ၎င်းတို့၏ အကြီးဆုံးသော ဆောင်ရွက်ချက်မှာ ၎င်းတို့သည် 'ကအ်ဗဟ်' ကျောင်းတော်တွင် များစွာသော ကျောက်လုံးများကို ထားရှိ ပူဇော်ပသခဲ့ကြခြင်းဖြစ်၏။ အိမ်တော်ကို ဝတ်လစ်စားလစ်လှည့်ပတ် ဖူးမျှော်ခဲ့ကြ၏။ အလ္လာဟ်အရှင်မြတ် အား အောက်မေ့တသ ရာတွင် လေချွန်ခဲ့ကြ၏။ လက်ခုပ်တီးခဲ့ကြ၏။ တဆူတည်းသော အလ္လာဟ်အရှင်မြတ် အား စိတ်စေတနာဖြူစင်စွာနှင့် ခဝပ်ကိုးကွယ်ကြသော မွတ်စ်လင်မ်တို့ကိုမူကား ကအ်ဗဟ်ကျောင်းတော်သို့ ဝင်ရောက်သွားလာခွင့် မပြုခဲ့ကြပေ။ ကာဖိရ် မုရှ်ရစ်က်တို့၏ အကြီးဆုံးဝတ်ပြုခြင်းမှာ ၎င်းတို့သည် ဟာဂျီများအား ရေတိုက်ကျွေးလေ့ရှိခဲ့ကြ၏။ ကျောင်းတော်၏ပရဝုဏ်တွင် ဆီမီးထွန်းလေ့ရှိခဲ့ကြ၏။ ကအ်ဗဟ်ကျောင်းတော် ပေါ်တွင် အဖုံးတော်ကို ဖုံးလွှမ်းလေ့ရှိခဲ့ကြ၏။ ကျောင်းတော်ကို ပျက်စီးယိုယွင်းလျှင် ပြုပြင်မွမ်းမံလေ့ရှိခဲ့ကြ၏။

သို့ရာတွင် ဤသည့်အပြုအမူများသည် အသက်ဝိညာဉ်မပါသော အပြုအမူများသာ ဖြစ်ချေသည်၊ အဘယ်ကြောင့် ဆိုသော် မုရှ်ရစ်က်များသည် အလ္လာဟ်အရှင်မြတ်အား အမှန်တကယ် မသိကြသည်ဖြစ်ရကား ၎င်းတို့၏ မည်သည့်အပြုအမူများ၌မျှ ၎င်းတို့၏အာရုံ ၎င်းတို့၏စိတ်စေတနာ သဒ္ဓါတရားသည် အလ္လာဟ် အရှင်မြတ်ထံတော်သို့ ပေါက်ရောက်နိုင်သည် မဟုတ်ပေ။ ထိုအတွက်ကြောင့်ပင် ကာဖိရ်တဦးတယောက်၏ အပြုအမူသည် အလ္လာဟ်အရှင်မြတ်၏ထံတော်တွင် အသက်မပါ အချည်းနှီးသာဖြစ်ချေသည်။ ဤသည်ကိုပင် ဤအာယတ်တော်တွင် (ဟဗီတွာတ် အအ်မာလဟွန်မ်) "၎င်းတို့၏ အပြုအမူများသည် အချည်းနှီးပင်ဖြစ်ချေပြီ" ဟူ၍ မိန့်ဆိုထားတော်မူခြင်း ဖြစ်သည်။

အချုပ်အားဖြင့် ကာဖိရ်၊ မုရှ်ရစ်က်များသည် မိမိတို့၏ အပြောအဆို အပြုအမူအားဖြင့် မိမိတို့ကိုယ်တိုင် အချိန်မရွေး 'ကုဖ်ရ်' 'ရှရ်စ်က်' မိစ္ဆာမှုများကို ကျူးလွန်လျက်ရှိကြောင်း သက်သေခံလျက်ရှိကြပေရာ အလ္လာဟ် အရှင်မြတ်၏ ဗလီကျောင်းတော်များ အထူးသဖြင့် 'မတ်စ်ဂျိဒေဟရာမ်' ကျောင်းတော်ကို စည်ကားသာယာအောင် ပြုလုပ်ခြင်းနှင့် အလျင်း မထိုက်တန်ကြပေ။

ဗလီဝတ်ကျောင်းများကို စည်ကားသာယာအောင် ပြုလုပ်ခြင်းမှာ စိတ်စေတနာဖြူစင်စွာဖြင့် အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုးသော၊ နောက်ဆုံးနေ့ကို ယုံကြည်သော၊ ကာယကံမြောက် အမြဲတစေ ဆွာလာတ်ဝတ်ပြုကြသော၊ မိမိတို့၏ဥစ္စာပစ္စည်းများအနက်မှ စံနစ်တကျ ဇကာတ်ပေးဆောင်ကြသော၊ အလ္လာဟ် အရှင်မြတ်မှတပါး မည်သူတဦးတယောက်ကိုမျှ မကြောက်ရွံ့သော၊ သာသနာတော်နှင့်တကွ သာသနာ့ အဆောက်အအုံများကို ကာကွယ်ထိန်းသိမ်းရန်နှင့် သန့်ရှင်းစင်ကြယ်စွာ ထားရှိရန်အတွက် ဂျိဟာဒ်ပြုရန် အသင့်ရှိသော၊ တနည်းအားဖြင့်ဆိုသော် စိတ်အားဖြင့်လည်းကောင်း၊ ကိုယ်ကာယအားဖြင့်လည်းကောင်း၊ ဥစ္စာပစ္စည်းအားဖြင့်လည်းကောင်း၊ အဘက်ဘက်၌ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို နာခံကျင့်သုံးလျက် ရှိကြသော မုအ်မင်န်များ၏တာဝန်သာ ဖြစ်သည်။ ဤသို့သော မုအ်မင်န်များသည်သာလျှင် ကျောင်းတော်များကို စည်ကားသာယာအောင် ပြုလုပ်ကြပေမည်။

ထို့ပြင်တဝ "ကျောင်းတော်များကို စည်ကားသာယာအောင် ပြုလုပ်ကြသူများ ဖြစ်ကြပါသည်" ဟု မဟုတ်မမှန် ကြွေးကြော် နေကြသော ကာဖိရ်၊ မုရှ်ရစ်က်များအား မိမိတို့နှင့် ဆွေမျိုးသားချင်း ➤➤

أَجَعَلْتُمْ سِقَايَةَ الْحَاجِّ وَعِمَارَةَ الْمَسْجِدِ الْحَرَامِ كَمَنْ آمَنَ بِاللَّهِ وَالْيَوْمِ الْآخِرِ وَجَاهَدَ فِي سَبِيلِ اللَّهِ ۚ لَا يَسْتَوُونَ عِنْدَ اللَّهِ ۗ وَاللَّهُ لَا يَهْدِي الْقَوْمَ الظَّالِمِينَ ﴿١٩﴾

၁၉။ အသင်တို့သည် ဟာဂျီများအား ရေတိုက်ခြင်းကိုလည်းကောင်း၊ 'မတ်စ်ဂျိဒေဟရာမ်' ထူးမြတ်သောဗလီကျောင်းတော်ကို စည်ကားသာယာအောင် ပြုလုပ်ခြင်းကို လည်းကောင်း၊ အလ္လာဟ် အရှင်မြတ်နှင့် နောက်ဆုံးနေ့ကို ယုံကြည်သည့်ပြင် အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်သောသူ(၏ကောင်းမှုကုသိုလ်)နှင့် တူမျှသည်ဟု ထင်မြင်ယူဆထားကြလေသလော။ ထိုသူများသည် အလ္လာဟ်အရှင်မြတ် အထံတော်၌ *(အဆင့်အတန်းချင်း)မတူကြချေ။* [၁] ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် မတရားကျူးလွန်သောသူတို့အား တရားလမ်းမှန်ကို ပြသတော်မူသည်မဟုတ်ပေ။

---

➤➤ တော်စပ်နေကြစေကာမူ ကျောင်းတော် မှ နှင်ထုတ်ကြရပေမည်။ အဘယ်ကြောင့်ဆိုသော် ထိုသို့သော ကာဖိရ်၊ မုရှ်ရစ်က်များရှိနေခြင်းအားဖြင့် ကျောင်းတော်များသည် စည်ကားသာယာခြင်း မဖြစ်သည့်အပြင် ပျက်စီးရာပျက်စီးခြင်းသာလျှင် ဖြစ်ရှိပေမည်။

(၂) "အီမာန်" ယုံကြည်မှုသဒ္ဓါတရားသည် ကုသိုလ်ကောင်းမှုများကို အလ္လာဟ်အရှင်မြတ် လက်ခံသဘောတူတော်မူရန်အတွက် အဓိကအခြေခံပင် ဖြစ်သည်။ ကာဖိရ်များ၌ အီမာန်တည်းဟူသော အခြေခံပင် မရှိသောကြောင့် ၎င်းတို့၏ကုသိုလ်ကောင်းမှုများသည် အချည်းနှီးပင် ဖြစ်ပေသည်။

"ထိုကာဖိရ်များသာလျှင် ငရဲမီး၌ အမြဲထာဝစဉ် လားကြရမည့်သူများဖြစ်သည်" ဟူသော အာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် ငရဲမီး၌ အမြဲထာဝစဉ် လားကြရမည့်သူများမှာ ကာဖိရ်များသာလျှင် ဖြစ်ကြောင်း၊ အပြစ်ရှိသော မွတ်စ်လင်မ်များသည် ငရဲမီး၌ အမြဲထာဝစဉ် လားကြရမည်မဟုတ်ကြောင်း၊ 'မုတကလ်လိမီန်' ပညာရှိကဝိတို့က ဖွင့်ဆိုရေးထားကြသည်။

အလ္လာဟ်အရှင်မြတ် သုံးနှုန်းတော်မူသော 'အစာ' ဟူသော ပုဒ်သည် "ဝါဂျစ်ဗ်" မုချဖြစ်ရမည် ဟူသော အနက်ပေးသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်အား နာခံလျက်ရှိသော ဤသူများသည် မုချတရားလမ်းမှန် ရရှိသောသူများပင် ဖြစ်ကြပေသည်။ ထိုအမိန့်တော်နာခံခြင်းသည် ၎င်းတို့အား ဂျန္နတ်သို့ ပို့ဆောင်မည်ဖြစ်သည်။ ခါဇင်န် အ-၃။ စ-၅၆။

(၁) မက္ကာမြို့ရှိ မုရှ်ရစ်က်များသည် ဟာဂျီများအား ပြုစုခဲ့ကြသည်၊ရေတိုက်ခဲ့ကြသည်။ ထမင်းကျွေးခဲ့ကြသည်။ "မတ်စ်ဂျိဒေဟရာမ်" ဗလီကျောင်းတော်ကို ပြုပြင်မွမ်းမံခဲ့ကြသည်။ အိမ်တော်အပေါ်၌ ဝတ်ရုံတော်ကို ဖုံးလွှမ်းခဲ့ကြသည်။ ကျောင်းတော်တွင် ဆီမီးထွန်းညှိခဲ့ကြသည်။ ဤသည့်ဆောင်ရွက်ချက်များကို အကြောင်းပြု၍ ၎င်းတို့သည် ကြွားဝါခဲ့ကြသည်။ ယင်းမုရှ်ရစ်က်များကမွတ်စ်လင်မ်များသည် ဂျိဟာဒ်ပြုခြင်း၊ ဟစ်ဂျ်ရတ်ပြုခြင်းများကို ဂုဏ်ယူနေကြလျှင် ကျွန်ုပ်တို့၌လည်း သာသနာရေးဆိုင်ရာ ထို (အထက်ဖော်ပြပါ) ဆောင်ရွက်ချက် ➤➤

اَلَّذِيْنَ اٰمَنُوْا وَ هَاجَرُوْا وَجٰهَدُوْا فِيْ سَبِيْلِ اللّٰهِ بِاَمْوَالِهِمْ وَاَنْفُسِهِمْ ۙ اَعْظَمُ دَرَجَةً عِنْدَ اللّٰهِ ؕ

၂၀။ အကြင်သူတို့သည် 'အီမာန်'သက်ဝင်ယုံကြည်ခဲ့ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် (မိမိတို့၏ ဥစ္စာပစ္စည်း အိုးအိမ်စည်းစိမ်တို့ကို စွန့်လွှတ်ကာ တရပ်တကျေးသို့) ရွှေ့ပြောင်းသွားရောက် နေထိုင်ခဲ့ကြကုန်၏။ ထိုမှတပါး ယင်းတို့သည် အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ မိမိတို့၏ ဥစ္စာပစ္စည်းများ

---

➤➤ များသည် ဂုဏ်ယူဖွယ်ရာများဖြစ်သည်ဟု ပြောဆိုခဲ့ကြလေသည်။

တချိန်သော် သာဝကကြီးအဗ်ဗားစ်(ရသွေ့ယလ္လာဟုတအာလာအန်ဟု)သခင်သည် ဤကဲ့သို့သော ဆောင်ရွက်ချက်များနှင့်စပ်လျဉ်း၍ သာဝကကြီးအလီ(ရသွေ့ယလ္လာဟုတအာလာအန်ဟု)သခင်နှင့် အချေအတင် ပြောဆိုခဲ့သည်။ 'ဆွဟီဟ်မွတ်စ်လင်' ကျမ်း၌လာရှိသည်မှာ တချိန်သော် အချို့မွတ်စ်လင်မ်များသည် အချင်းချင်း ငြင်းခုံပြောဆိုနေကြသည်။ အချို့က 'ကျွန်ုပ်ထံတွင် အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ကြပြီးနောက် ဟာဂျီများအား ရေတိုက်ကျွေးခြင်းထက် မြင့်မြတ်သော ကောင်းမှုမရှိ' ဟု ဆိုသည်။ အချို့က 'ကျွန်ုပ်၏ သဘောတွင် အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ပြီးနောက် အကောင်းဆုံးအလုပ်မှာ မတ်စ်ဂျိဒေဟရာမ် ကျောင်းတော်၏ ဝေယျာဝစ္စ-ဥပမာ တံမြက်လှည်းခြင်း၊ ဆီမီးထွန်းညှိခြင်း စသည်တို့ဖြစ်သည်' ဟုဆိုသည်။ အချို့က 'အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ဂျိဟာဒ်ပြုလုပ်ခြင်းသည် ကျန်အားလုံးသော ကောင်းမှုများထက် အကောင်းမွန်ဆုံးဖြစ်သည်' ဟုဆိုသည်။ ထိုအခါ သာဝကကြီးအုမရ်(ရသွေ့ယလ္လာဟုတအာလာအန်ဟု)သခင်က ၎င်းတို့အား 'အသင်တို့သည် ဂျုမုအဟ်နေ့တွင် တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ 'မင်န်ဗရ်' ဓမ္မပလ္လင်အနီး၌ ဤသို့ အချေအတင် ပြောဆိုကြသည်။ အနည်းငယ် သည်းခံကြကုန်လော့။ ဂျုမုအဟ်ဝတ်ပြုမှု တမန်တော်မြတ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်) ပြီးစီးတော်မူသည့်အခါ ဤသည့်အကြောင်းနှင့်စပ်လျဉ်း၍ တမန်တော်မြတ်ထံ မေးမြန်းမည်' ဟု ဝေါက်ငမ်းပြောဆိုလေသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ဂျုမုအဟ်ဝတ်ပြုမှု ပြီးစီးတော်မူသည့်အခါ သာဝကကြီးအုမရ်သခင်သည် အဆိုပါငြင်းခုံမှုနှင့်စပ်လျဉ်း၍ မေးမြန်းရာ ကုရ်အာန်ကျမ်းလာ အာယတ်တော်(၉း ၁၉)သည် ကျရောက်လာခဲ့လေသည်။ ယင်းအာယတ်တော်၏ အလိုသဘောအရ ဟာဂျီများအား ရေတိုက်ကျွေးခြင်း၊ မတ်စ်ဂျိဒေဟရာမ်ကို အမြင်အားဖြင့် သာယာအောင် ပြုပြင် မွမ်းမံခြင်းသည် အလ္လာဟ် အရှင်မြတ်အား အီမာန် ယုံကြည်ခြင်းထက်သော် လည်းကောင်း၊ ထို အရှင်မြတ်၏ လမ်းတော်၌ ဂျိဟာဒ်ပြုလုပ်ခြင်းထက်သော်လည်းကောင်း၊ ပိုမိုထူးကဲမြင့်မြတ်ရန် ဝေးစွ၊ တန်းတူပင် မဖြစ်နိုင်ပေ။

ဤအာယတ်တော်တွင် 'ဂျိဟာဒ်' အကြောင်းနှင့်ပူးတွဲ၍ 'အီမာန်' ၏အကြောင်း မိန့်ဆိုထားတော်မူခြင်းမှာ တနည်းအားဖြင့် မုရှ်ရစ်က်များ၏ကြွားဝါမှုကို ချေပဖြေကြားထားတော်မူခြင်းပင် ဖြစ်သည်။ ခဝပ်ကိုးကွယ်မှု အားလုံးတို့၏အသက်သည် 'အီမာန်' ပင်ဖြစ်သည်။ ဤသည့်အသက်မပါပဲလျက် ရေတိုက် ကျွေးခြင်း၊ ကျောင်းတော်ကို ပြုပြင်မွမ်းမံခြင်းသည် အသက်မပါသော အလုပ်မျှသာ ဖြစ်ချေသည်။ သို့ဖြစ်ရာ အသက်မပါသောအလုပ်သည် ရာသက်ပန် အသက်ရှင်နေသည့်အလုပ်နှင့် အသို့လျှင်တူနိုင်ပါအံ့နည်း။ ကုရ်အာန် ကျမ်းမြတ် (၃၅း၂၂)တွင် 'အရှင်များနှင့် အသေများသည် တန်းတူမဖြစ်နိုင်ချေ' ဟု မိန့်ဆိုထားတော်မူသည်။

وَأُولَٰئِكَ هُمُ الْفَائِزُونَ ﴿٢٠﴾

ဖြင့်လည်းကောင်း၊ မိမိတို့၏ အသက်ဇီဝိန်များဖြင့် လည်းကောင်း၊ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခဲ့ကြကုန်၏။ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်အထံတော်၌ အဆင့်အတန်းအားဖြင့် အလွန်မြင့်မြတ်လှသည့်ပြင် ထိုသူတို့သည်သာလျှင် 'အောင်မြင်မှု' ကို ရရှိသူများ ဖြစ်ကြကုန်သတည်း။

يُبَشِّرُهُمْ رَبُّهُم بِرَحْمَةٍ مِّنْهُ وَرِضْوَانٍ وَجَنَّاتٍ لَّهُمْ فِيهَا نَعِيمٌ مُّقِيمٌ ﴿٢١﴾

၂၁။ ထိုသူတို့ကား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ထိုသူတို့ကို မိမိ အထံတော်မှ ကရုဏာတော်ကို ခံစားကြရမည်ကိုလည်းကောင်း၊ (ထို အရှင်မြတ်၏)နှစ်သက်မှုကို ရရှိကြမည်ကိုလည်း ကောင်း၊ ထိုသူတို့အဖို့ ထာဝရစည်းစိမ်နှင့် ပြည့်စုံသော ဥယျာဉ်များ ရရှိကြမည်ကိုလည်းကောင်း၊ သတင်းကောင်း မိန့်ကြားတော်မူလေသတည်း။

خَالِدِينَ فِيهَا أَبَدًا ۚ إِنَّ اللَّهَ عِندَهُ أَجْرٌ عَظِيمٌ ﴿٢٢﴾

၂၂။ ၎င်းတို့သည်ထိုဥယျာဉ်များ၌ ထာဝရ နေထိုင် စံမြန်းကြပေမည်။ စေန်အမှန် အလ္လာဟ်အရှင်မြတ်၏ အထံတော်၌သာ ကြီးကျယ်မြင့်မြတ်လှစွာသော အကျိုးဆုလာဘ်သည် ရှိချေသတည်း။ [၁]

---

၁ ကုရ်အာန်ကျမ်းမြတ် (၉း၂၀) တွင် အကြောင်း (၃) ခု ပါရှိသည်။

(၁) အီမာန်။

(၂) ဂျိဟာဒ်။

(၃) ဟစ်ဂျ်ရတ်။

ကုရ်အာန်ကျမ်းမြတ် (၉း၂၁-၂၂) တွင် အထက်ပါအကြောင်းသုံးရပ်၏ အကျိုးသုံးရပ်ရှိသည်။

(၁) ရဟ်မတ်။

(၂) ရစ်ဿွဝါန်၊ (အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှု)

(၃) ဂျန္နတ်။

ဖော်ပြပါအကြောင်းသုံးရပ်၊ အကျိုးသုံးရပ်နှင့် စပ်လျဉ်း၍ သုခမိန်ကြီး အဗူဟိုင်ယ်ယာန် သခင်က အောက်ပါအတိုင်း ဖွင့်ဆိုရေးသားထားသည်။

"ရဟ်မတ်" ကရုဏာတော်သည် "အီမာန်" ၏ အကျိုးဖြစ်သည်။

"ရစ်ဿွဝါန်" အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှုသည် "ဂျိဟာဒ်" ၏ အကျိုးဖြစ်သည်။ ➤➤

يَاَيُّهَا الَّذِيۡنَ اٰمَنُوۡا لَا تَتَّخِذُوۡۤا اٰبَآءَكُمۡ وَاِخۡوَانَكُمۡ اَوۡلِيَآءَ اِنِ اسۡتَحَبُّوا الۡكُفۡرَ عَلَى الۡاِيۡمَانِ‌ؕ وَمَنۡ يَّتَوَلَّهُمۡ مِّنۡكُمۡ فَاُولٰۤـئِكَ هُمُ الظّٰلِمُوۡنَ ۝٢٣

၂၃။ အို-မုအ်မင်န်” သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့၏ ဘ၊ ဘိုး၊ ဘေးတို့သည်လည်းကောင်း၊ အသင်တို့၏ညီသားအစ်ကိုတို့သည်လည်းကောင်း၊ အကယ်၍‘ကုဖ်ရ် သွေဖည်ငြင်းပယ်မှု’ကို ‘အီမာန်ယုံကြည်မှု’ ထက် နှစ်သက်မြတ်နိုးကြပါလျှင် အသင်တို့သည် ၎င်းတို့အား *အဆွေခင်ပွန်းများ မပြုလုပ်ကြကုန်လင့်။* ၁ စင်စစ်မှုကား မည်သူမဆို အသင်တို့အနက်မှ ၎င်းတို့အား အဆွေခင်ပွန်း ပြုလုပ်ပါလျှင် ထိုကဲ့သို့သောသူများသည်သာ မတရားမှု ကျူးလွန်သူများ ဖြစ်ကြအံ့သတည်း။

---

➤➤ “ဂျန္နတ်” သည် “ဟစ်ဂျ်ရတ်” ၏ အကျိုးဖြစ်သည်။

အဘယ်ကြောင့်ဆိုသော် အီမာန်မရှိပါက နောင်တမလွန်ဘဝတွင် အလ္လာဟ်အရှင်မြတ်၏ “ရဟ်မတ်” ကရုဏာတော်ကို ရရှိနိုင်မည် မဟုတ်ပေ။

အလ္လာဟ်အရှင်မြတ်၏ “ရစ်သွဝါန်” နှစ်သက်မြတ်နိုးတော်မူခြင်းသည် အမြင့်မြတ်ဆုံးသော အဆင့်အတန်းပင် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ဂျိဟာဒ်ပြုလုပ်သောသူတဦးသည် မိမိ၏ အသက်၊ စည်းစိမ်ဥစ္စာ အကျိုးခံစားမှု အဆက်အသွယ် အရပ်ရပ်တို့ကို စွန့်လွှတ်၍ ထိုအရှင်မြတ်၏ နှစ်သက်မြတ်နိုးတော်မူခြင်းကို ခံစားနိုင်ရန်အတွက် စွန့်ခြင်းကြီး စွန့်ခြင်းပင်ဖြစ်သည်။ ထို့အတွက် ထိုသို့သော စွန့်ခြင်းကြီး၏အကျိုးမှာလည်း အမြင့်မြတ်ဆုံးပင် ဖြစ်ရပေမည်။ အမြင့်မြတ်ဆုံးသော အကျိုးကား အလ္လာဟ်အရှင်မြတ်၏ “ရစ်သွဝါန်” နှစ်သက် မြတ်နိုးတော်မူခြင်းပင်ဖြစ်သည်။

အလ္လာဟ် အရှင်မြတ်၏ လမ်းတော်၌ မိမိ၏ တိုင်းပြည်နှင့် တိုက်တာဂေဟာများ စွန့်လွှတ်ခြင်းသည် ဟစ်ဂျ်ရတ် မည်သည်။ ထို့အတွက် ယင်းသို့ ဟစ်ဂျ်ရတ် ပြုသောသူအား ထိုသူ၏ တိုင်းပြည်၊ ထိုသူ၏ တိုက်တာ ဂေဟာများထက် အတိုင်းအတာမရှိ၊ ပိုမိုထူးကဲ ကောင်းမွန် မြင့်မြတ်လှသော အမြဲထာဝရ အမတသုခနှင့် ပြည့်စုံသော၊ အမြဲထာဝစဉ် စံစားရမည် ဖြစ်သော ဂျန္နတ် ဥယျာဉ်တော်ကို ချီးမြှင့်တော် မူခြင်းပင်ဖြစ်သည်။

(၁) ဂျိဟာဒ်နှင့် ဟစ်ဂျ်ရတ်သည် အမြင့်မြတ်ဆုံးသော အလုပ်များဖြစ်ကြောင်း အထက်တွင် ပါရှိခဲ့သည်။ ဤအလုပ်များကို လက်တွေ့လိုက်နာ ကျင့်သုံးရာတွင် ဆွေမျိုးသားချင်းတို့၏ သံယောဇဉ်သည်များသောအားဖြင့် အဟန့်အတား ဖြစ်တတ်ပေသည်။ ထို့အတွက်ကြောင့် ဤအာယတ်တော်တွင် အကယ်၍ အကြင်သားချင်းများသည် အီမာန်ထက် ကုဖ်ရ်ကို နှစ်သက်မြတ်နိုးကြလျှင် ထိုသို့သော သားချင်းများအား မုအ်မင်န်များသည် အကျွမ်းတဝင် အဆွေခင်ပွန်းအဖြစ် အသို့လျှင် ပြုလုပ်ပေါင်းသင်းဆက်ဆံကြအံ့နည်း။ မုအ်မင်န်တဦးသည် မိမိအား ဂျိဟာဒ်ပြုလုပ်ခြင်းမှလည်းကောင်း ဟစ်ဂျ်ရတ်ပြုလုပ်ခြင်းမှလည်းကောင်း၊ အဟန့်အတား အနှောင့်အယှက် ဖြစ်စေသည့် သားချင်းတို့၏သံယောဇဉ်ကို အသို့လျှင် မဖြတ်တောက်ပဲ နေနိုင်အံ့နည်း။ ➤➤

قُلْ إِنْ كَانَ اٰبَآؤُكُمْ وَاَبْنَآؤُكُمْ وَاِخْوَانُكُمْ وَاَزْوَاجُكُمْ وَعَشِيْرَتُكُمْ وَاَمْوَالُ اِقْتَرَفْتُمُوْهَا وَتِجَارَةٌ تَخْشَوْنَ كَسَادَهَا وَمَسٰكِنُ تَرْضَوْنَهَآ اَحَبَّ اِلَيْكُمْ مِّنَ اللّٰهِ وَرَسُوْلِهٖ وَجِهَادٍ فِيْ سَبِيْلِهٖ فَتَرَبَّصُوْا حَتّٰى يَاْتِيَ اللّٰهُ بِاَمْرِهٖ ۗ وَاللّٰهُ لَا يَهْدِى الْقَوْمَ الْفٰسِقِيْنَ ﴿٢٤﴾

၂၄။ (အို–နဗီတမန်တော်) အသင်သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အား ဤသို့ပြောကြားပါလေ။ (ဟယ်–အချင်းတို့) အသင်တို့၏အဘများသည်လည်းကောင်း၊ အသင်တို့၏သားများသည်လည်းကောင်း၊ အသင်တို့၏ညီသားအစ်ကိုများသည်လည်းကောင်း၊ အသင်တို့၏ ဇနီးကြင်ရာများသည်လည်းကောင်း၊ အသင်တို့၏ဆွေမျိုးသားချင်းများသည်လည်းကောင်း၊ အသင်တို့ ရှာဖွေဆည်းပူးထားကြသောပစ္စည်းဥစ္စာများသည်လည်းကောင်း၊ အသင်တို့သည် ထိုင်းမှိုင်းသွားမည်ကိုစိုးရိမ်လျက်ရှိကုန်သော ရောင်းဝယ်ဖောက်ကားမှုသည်လည်းကောင်း၊ အသင်တို့ နှစ်သက်ကုန်သော အိမ်ယာတိုက်တာ ဂေဟာများသည်လည်းကောင်း၊ အသင်တို့ထံတွင် အလ္လာဟ်အရှင်မြတ်ထက်လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်ထက်လည်းကောင်း၊ ထိုအရှင်မြတ်၏လမ်းတော်၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းထက်လည်းကောင်း၊ ပိုမို၍ပင် ချစ်ခင်စုံမက် မြတ်နိုးဖွယ်ရာများ ဖြစ်ခဲ့ကြပါလျှင် အလ္လာဟ်အရှင်မြတ်သည် ('ဟစ်ဂျ်ရတ်' မပြုလုပ်ခြင်း၏အပြစ်ဒဏ်များနှင့် စပ်လျဉ်း၍) မိမိအမိန့်တော်ကို ထုတ်ပြန်တော်မူသည့်တိုင်အောင်အသင်တို့သည် စောင့်ဆိုင်း၍သာနေကြကုန်လော့၊ [1] အမှန်သော်ကားအလ္လာဟ်အရှင်မြတ်သည် အမိန့်တော်ကို သွေဖည်သောသူတို့အား တရားလမ်းမှန်ကို ပြသတော်မူသည်မဟုတ်ပေ။

➢➢ အကယ်၍ မုအ်မင်န် တဦးတယောက်သည် ယင်းသို့သော သားချင်းတို့၏ သံယောဇဉ်ကို ထောက်ထား၍ ထိုသို့သော သားချင်းတို့အား အကျွမ်းတဝင် ဆက်လက်ပေါင်းသင်း နေထိုင်ပါလျှင် ပြစ်မှုကို ကျူးလွန်ကာ မိမိကိုယ်ကို မိမိပင် ကျူးကျော် စော်ကားရာ ရောက်ပေမည်။ ဤသို့ ပြုမူခြင်းကား မုအ်မင်န်၏ အလုပ် မဟုတ်ပေ။

ဤအာယတ်တော်နှင့် ဆက်စပ်၍ ကုရ်အာန်ကျမ်းမြတ် (၅၈း ၂၂) ကိုလည်း ရှုပါကုန်။

(၁) အကယ်၍ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အမိန့် ➢➢

لَقَدْ نَصَرَكُمُ اللّٰهُ فِىْ مَوَاطِنَ كَثِيْرَةٍ ۙ وَّيَوْمَ حُنَيْنٍ ۙ اِذْ اَعْجَبَتْكُمْ كَثْرَتُكُمْ فَلَمْ تُغْنِ عَنْكُمْ

၂၅။ စကန်မလွဲ အလ္လာဟ် အရှင်မြတ်သည် အသင်တို့အား *များစွာသော စစ်မြေပြင်များ၌လည်း ကောင်း၊* [၁] *'ဟိုနိုင်န်'(တောင်ကြားတွင် စစ်ဖြစ်ခဲ့သော) နေ့၌လည်းကောင်း၊* [၂] ကူညီဆောင်မတော်မူခဲ့လေ သည်။

---

➤➤ ဩဝါဒများကို လိုက်နာကျင့်သုံးခြင်းအားဖြင့်လည်းကောင်း၊ ထိုအရှင်မြတ်၏ လမ်းတော်၌ ဂျိဟာဒ်၊ ဟစ်ဂျ်ရတ် ပြုလုပ်ခြင်းအားဖြင့်လည်းကောင်း၊ သားချင်းများနှင့် အဆက်ပြတ်လိမ့်မည်၊ ဥစ္စာပစ္စည်းများ ဆုံးရှုံးလိမ့်မည်၊ အရောင်းအဝယ်ပျက်စီးလိမ့်မည်၊ သုခချမ်းသာရှိသော တိုက်တာဂေဟာများမှထွက်၍ အိမ်မဲ့ အိုးမဲ့ဖြစ်ရလိမ့်မည်၊ စသည့် အတွေးအတော အယူအဆများသည် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်၏ အမိန့်ဩဝါဒများကို လိုက်နာကျင့်သုံးရာတွင်လည်းကောင်း၊ ဂျိဟာဒ်၊ ဟစ်ဂျ်ရတ် ပြုလုပ်ရာတွင်လည်းကောင်း၊ အဟန့်အတား အနှောင့်အယှက် ဖြစ်နေပါလျှင် ထိုသို့တွေးထင် ယူဆသောသူများသည် မိမိတို့၏ လောကီစည်းစိမ် ယစ်မှုအတွက် သက်ရောက်မည့် အလ္လာဟ်အရှင်မြတ်၏ပြစ်ဒဏ်ကို စောင့်မျှော်၍သာ နေကြရတော့မည်ဖြစ်သည်။

ကာဖိရ် မုရှ်ရစ်က်တို့နှင့် အကျွမ်းတဝင် ဆက်ဆံပေါင်းသင်းမှု၊ သို့မဟုတ် လောကီစည်းစိမ်များတွင် နစ်မွန်း၍ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို မလိုက်နာ မကျင့်သုံးသောသူများသည် အဘယ်သော အခါတွင်မျှ မှန်ကန်သော အောင်မြင်မှု၏လမ်းစဉ်ကို ရရှိနိုင်ကြမည် မဟုတ်ပေ။

လောကီစည်းစိမ်များတွင် နစ်မွန်းနေကြသောသူများနှင့် ပတ်သက်၍ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က အောက်ပါအတိုင်း မိန့်ကြားတော်မူခဲ့လေသည်။

အကြင်အခါ၌ အသင်တို့သည် နွားအမြီးကိုဆွဲကိုင်ကာ လယ်ယာလုပ်ကိုင်ခြင်းကိုသာ နစ်သက် တွယ်တာနေကြကုန်အံ့။ ဂျိဟာဒ်ကို စွန့်လွှတ်ထားကြကုန်အံ့။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် အသင်တို့ အပေါ်၌ ဂုဏ်ရည်သေးသိမ်မှုပြစ်ဒဏ်ကို သက်ရောက်စေတော်မူမည်ဖြစ်အံ့။ ထိုပြစ်ဒဏ်မှ အသင်တို့သည် မိမိတို့၏ "ဒီန်" သာသနာဘက်သို့ (ဝါ) အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ ဂျိဟာဒ်ပြုလုပ်ခြင်းဘက်သို့ ပြန်လည်မလှည့်ကြသမျှ ကာလပတ်လုံး လွတ်မြောက်နိုင်ကြမည်မဟုတ်ပေ။

(၁) 'များစွာသော နေရာများ၌' ဟူသောစကားနှင့် စပ်လျဉ်း၍ ရာဇဝင်ပါရဂူများနှင့် မဃာဇီ စစ်ရာဇဝင် သမိုင်းပါရဂူများ၊ ပညာရှိသုခမိန်များက 'ယင်းနေရာများမှာ ရှစ်ဆယ်တိတိ' ရှိခဲ့ကြောင်း ရေတွက်ပြခဲ့ကြပေသည်။ ဇဟ်ရ်။

(၂) 'ဟိုနိုင်န်' သည် မက္ကာမြို့တော်မှ 'တွာအစ်ဖ်' သို့ သွားလာသည့်လမ်းတွင် တည်ရှိသော တောင်ကြားဒေသ တခု၏အမည်ဖြစ်သည်။ မက္ကာမြို့မှ သုံးမိုင်ခန့်အကွာ၌ တည်ရှိသည်။

မက္ကာမြို့တော်ကို အောင်နိုင်ပြီး ရက်သတ္တနှစ်ပတ်နောက် ထိုတောင်ကြားဒေသ၌ မွတ်စ်လင်မ်များနှင့် လေးအတတ်ပညာတွင် ကျွမ်းကျင်သော ဟဝါဇင်န်၊ ဆကီဖ်မျိုးနွယ်တို့ စပ်ကြားတွင် စစ်ဖြစ်ပွားခဲ့လေသည်။

စစ်ဖြစ်ပွားခဲ့သည့်နေ့ရက်မှာ ဟစ်ဂျ်ရီသက္ကရာဇ် (၈)ခုနှစ်၊ ရှောင်ဝါလ်လ (၆)ရက်၊ ခရစ်သက္ကရာဇ် ၆၃၀-ခုနှစ်၊ ဖေဖော်ဝါရီလ (၁)ရက်နေ့ဖြစ်သည်။ မာဂျိဒီ။ အ-၂။ စ-၃၉၉။ အအ-၃၈။ ➤➤

➤➤ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ဂျိဟာဒ်ပြုလုပ်ရာတွင် မွတ်စ်လင်မ်တို့သည် သားချင်း၊ ဥစ္စာပစ္စည်း၊ တိုက်တာဂေဟာ အစရှိသည့် လောကီသံယောဇဉ်များကို မငဲ့ကွက်ရမည့်အကြောင်း အထက်၌ မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်တွင် 'မုဂျာဟစ်ဒ်' အစ္စလာမ်သာသနာ့ စစ်သည်တော်များသည် မိမိတို့၏ စစ်သည်အင်အား များပြားမှုအပေါ်တွင် ပလွှားဝါကြွားခြင်း မပြုကြရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။ အမှန်စင်စစ် ကူညီမှုသည် အလ္လာဟ်အရှင်မြတ်အထံတော်မှပင် ဖြစ်သည်။ အောင်နိုင်မှုသည်လည်း ထိုအရှင်မြတ်၏ ကူညီတော်မူခြင်းကြောင့်သာလျှင် ဖြစ်သည်။ ဤသည့်အချက်ကို မွတ်စ်လင်မ်တို့သည် ယခင်ကလည်း မြောက်မြားစွာသော စစ်မြေပြင်များတွင် ကိုယ်တွေ့မျက်မြင် ဖြစ်ခဲ့ကြပေသည်။ ဥပမာ-ဗဒ်ရ်၊ ကုရိုင်ဇွဟ်၊ နသွီရ်၊ ဟုဒိုင်ဗိယတ် စသည့်စစ်ပွဲများတွင် ဖြစ်ပေါ်ခဲ့သော အကျိုးတရားများသည် မျက်ကွယ်မှ အလ္လာဟ်အရှင်မြတ် ကူညီတော်မူခြင်း၏ အကျိုးသာလျှင် ဖြစ်ပေသည်။ ယခုနောက်ဆုံးတွင် 'ဟုနိုင်န်' စစ်ပွဲ၌ မွတ်စ်လင်မ်တို့အား ကောင်းကင်မှ အဲ့မဆုံးနိုင်လောက်အောင် အလ္လာဟ်အရှင်မြတ် ကူညီတော်မူခဲ့သည့်အကြောင်းကို မိန့်ဆိုထားတော်မူသည်။ ယင်းသို့ အံ့ဖွယ်မဆုံး အလ္လာဟ်အရှင်မြတ် ကူညီတော်မူခဲ့သည်ကို မွတ်စ်လင်မ်များသာ မဆိုထားဘိ၊ အစ္စလာမ်၏ ရန်သူကြီးများကပင်လျှင် ဝန်ခံခဲ့ကြပေသည်။

**'ဟုနိုင်န်' စစ်ပွဲ**

မက္ကာမြို့တော်ကို အောင်နိုင်ပြီးသည့်နောက် ရက်အနည်းငယ် အတွင်းမှာပင် 'ဟဝါဇင်န်' 'ဆကီဖ်' အစရှိသည့် များစွာသော အရဗ်မျိုးနွယ်စုများသည် စုပေါင်း၍ ကြီးမားသောစစ်တပ်ကြီးတတပ် ဖွဲ့စည်းကာ စစ်လက်နက်အပြည့်အစုံနှင့် မွတ်စ်လင်မ်တို့အား တိုက်ခိုက် ချေမှုန်းရန် ကြံရွယ်နေသည့်အကြောင်း တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတော်သို့ သတင်းရောက်ရှိလာခဲ့လေသည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ထိုသတင်းကို ရလျှင်ရခြင်း မက္ကာမြို့တော်ကို သိမ်းပိုက်ရန် မဒီနာမြို့မှ လိုက်ပါလာခဲ့ကြသော 'မုဟာဂျစ်ရ်'၊ 'အန်ဆွာရ်' စစ်သည်တသောင်း (၁၀၀၀၀)နှင့်အတူ 'တွာအစ်ဖ်' မြို့ဘက်သို့ ဦးတည်ကာ ချီတက်တော်မူလေသည်။ ထို့ပြင်တဝ မက္ကာမြို့တော်ကို အောင်နိုင်သည့်အချိန်တွင် အစ္စလာမ်ကို သက်ဝင်ယုံကြည်လာခဲ့ကြသော တုလကာ ခေါ် ကျွန်အဖြစ်မှ လွတ်မြောက်ခဲ့ကြသော မွတ်စ်လင်မ်များအနက်မှ မွတ်စ်လင်မ်နှစ်ထောင် (၂၀၀၀)တို့သည်လည်း တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် အတူတကွ လိုက်ပါလာခဲ့ကြလေသည်။ ဤသို့ စစ်လက်နက် အပြည့်အစုံနှင့် စစ်သည်တသောင်းနှစ်ထောင် (၁၂၀၀၀)ပါဝင်သော စစ်တပ်ကြီးဖြင့် ဂျိဟာဒ် ပြုလုပ်ရန် စစ်မြေပြင်သို့ စစ်ချီတက်ခြင်းမှာ အစ္စလာမ့်သမိုင်းတွင် ဤသည် ပထမဆုံး အကြိမ်ပင် ဖြစ်ပေသည်။

စစ်သည်အင်အား ဤမျှ များပြားကြီးမားသော စစ်တပ်ကြီးကို တွေ့မြင်ကြသောအခါ အချို့ မွတ်စ်လင်မ်များက "ငါတို့သည် စစ်သည်အင်အားနည်းပါး ချို့တဲ့ခဲ့သည့် အချိန်များကပင် အောင်နိုင်ခဲ့ကြသေးသည်ဖြစ်ရာ ယခု ဤရွေ့ဤမျှ စစ်သည်အင်အား များပြားကြီးမားလျက်ရှိရာ ငါတို့သည် မည်သူ့ကိုမျှ ရှုံးနိမ့်ကြမည်မဟုတ်" ဟု စိတ်လိုက်မာန်ပါ အားတက်စွာ ကြွားဝါပြောဆိုမိခဲ့ကြလေသည်။ တဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ကြကုန်သော မွတ်စ်လင်မ်တို့က မိမိတို့၏စစ်သည်အင်အားကို အားကိုးကာ ဤသို့ပြောဆိုခြင်းမှာ အလ္လာဟ်အရှင်မြတ်၏ထံတော်ပါးတွင် နှစ်မြို့တော်မူဖွယ်ရာ မဟုတ်သောကြောင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် စစ်သည်ဗိုလ်ပါ တသောင်းနှစ်ထောင်တို့သည် မက္ကာမြို့မှ ချီတက်၍ ခရီးအနည်းငယ်သာ ရောက်ရှိခဲ့ကြသေးသည့်အချိန်မှာပင် ရန်သူစစ်သည်များနှင့် ရင်ဆိုင်တွေ့ကြုံကြရလေတော့သည်။



➤➤ ရန်သူများ၏ စစ်တပ်တွင် စစ်သည်လေးထောင် (၄၀၀၀)သာပါရှိသည်။ ရန်သူစစ်သည်များသည် ဦးခေါင်းတွင် 'ကဖန်' ပိတ်စည်းကာ ဇနီးမိန်းမများနှင့်တကွ ကလေးသူငယ်များကိုပါ ခေါ်ဆောင်၍ လာခဲ့ကြသည်။ ထို့ပြင်တဝ ရန်သူစစ်သည်တော်များသည် အပြတ်အသတ် ပြိုင်ဆိုင်တိုက်ခိုက်နိုင်ရန် အတါက် ကုလားအုတ်၊ မြင်း၊ နွားစသည့်တိရစ္ဆာန်များနှင့် အိမ်တွင်းရှိ ပစ္စည်းများအားလုံးကိုပါ တခုမကျန် ယူဆောင်လာခဲ့ကြလေသည်။ ဤကဲ့သို့ သားသမီး ဇနီးမိန်းမများနှင့် ဥစ္စာပစ္စည်းအားလုံးကို ခေါ်ဆောင်ယူငင်လာခြင်းမှာ သူသေငါသေ အပြတ်အသတ် အပြီးအပြတ် တိုက်ခိုက်ရန်အတွက်ပင် ဖြစ်သည်။

'ဟဝါဇင်န်' မျိုးနွယ်သည် ဒူးလေးပစ်ခတ်ရာတွင် အရေဗျတနိုင်ငံလုံး၌ အထူးကျော်ကြားခဲ့သည်။ ထိုမျိုးနွယ်၏ဒူးလေးပါရဂူများ၏ တပ်စုတစုသည် ဟိုနိုင်န်၏ တောတောင်များတွင် အသင့်စောင့်ဆိုင်းနေခဲ့ကြ၏။ ဤသည့်စစ်ပွဲအကြောင်းနှင့် စပ်လျဉ်း၍ ဗုခါရီ၊ မွတ်စလင်မ်ကျမ်းကြီးများတွင် ဗရာအစ်ဗ်နအာဇစ်ဗ်၏ ရိဝါယတ် တဆင့် ပြောကြားချက်အရ ဤသို့လာရှိသည်... ဤစစ်ပွဲတွင် ပထမသော် ရန်သူကာဖိရ်များ စစ်ရေးရှုံးနိမ့် သွားခဲ့ကြပေသည်။ ရန်သူများသည် မြောက်မြားစွာသောပစ္စည်းများကို စွန့်ပစ်ကာ ကစဉ့်ကလျား ဖြစ်သွားခဲ့ကြ ပေသည်။ ရန်သူများ ဤသို့ကစဉ့်ကလျား ဖြစ်သွားကြသည်ကို တွေ့မြင်ကြရသည့်အခါ မွတ်စ်လင်မ် စစ်သည်တော် များ လက်ရပစ္စည်းများကို ယူငင် သိမ်းပိုက်ကြလေတော့သည်။ ယင်းသို့ မွတ်စ်လင်မ်စစ်သည်တော်များသည် လက်ရပစ္စည်းများကို ယူငင်သိမ်းပိုက်နေချိန်၌ တောတောင်များတွင် အသင့်စောင့်ဆိုင်းနေကြသော ဟဝါဇင်န် မျိုးနွယ်၏ ဒူးလေးသမားများသည် တောင်များမှထွက်ကာ မွတ်စ်လင်မ်စစ်သည်တော်များအား လေးဘက်လေးတန် ဝိုင်းဝန်း ပစ်ခတ်ကြတော့သည်။ ယင်းသို့ ပစ်ခတ်ကြသောအခါ တခဏချင်းအတွင်းမှာပင် လေးဘက်လေးတန်မှ ယင်းသို့ မြားမိုးရွာသွန်းချခြင်းကို ခံကြရရာ မွတ်စ်လင်မ်များအဖို့ စစ်မြေပြင်တွင် တည်ကြည်စွာ ရပ်တည်၍ ခုခံရန်ပင် ခဲယဉ်းသွားပေတော့သည်။ ဦးစွာ ပထမ 'တုလကာ' ခေါ် မက္ကာမြို့မှ လိုက်ပါလာခဲ့ကြသော မွတ်စ်လင်မ်များသည် ကစဉ့်ကလျား ဖြစ်သွားခဲ့ကြပေသည်။ နောက်ဆုံးတွင် မွတ်စ်လင်မ်စစ်သည်တော်များ အားလုံး လိုလိုပင် စစ်မြေပြင်တွင် မရပ်တည်နိုင်တော့ပဲ ဖရိုဖရဲ ဖြစ်သွားခဲ့ကြလေသည်။ မြေကြီးသည် ကျယ်ပြန့်ပါလျက် နှင့်ပင် မွတ်စ်လင်မ်စစ်သည်တော်များ အဖို့မှာကား ကျဉ်းမြောင်းသွားလေတော့သည်။

မွတ်စ်လင်မ်စစ်သည်တော်များသည် ခိုအောင်းနိုင်ရန်ပင် နေရာမရ ဖြစ်သွားခဲ့ကြလေသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့်တကွ အချို့သာဝကကြီးများသည်ပင် ရန်သူများ၏ ဝိုင်းဝန်းခြင်းကို ခံနေခဲ့ကြရပေသည်။ သာဝကကြီးအဗူဗတ်က်ရ်၊ အုမရ်၊ အဗ္ဗားစ်၊ အလီ၊ အဗ်ဒုလ္လာဟ် အစ်ဗ်နူမတ်စ်အူးဒ်စသည့် သာဝကကြီးတရာ(၁၀၀)သို့မဟုတ် (၈၀)ရှစ်ဆယ်ခန့်သာလျှင် တမန်တော်မြတ်နှင့်အတူ စစ်မြေပြင်၌ ကျန်ရှိခဲ့ကြပေသည်။ 'အဟ်လေ့စိယရ် တမန်တော်မြတ်၏ အတ္ထုပ္ပတ္တိရေးသားသော အချို့ စာရေးဆရာကြီးများ၏ ယူဆချက်အရ သာဝကကြီးဆယ်ပါးသာလျှင် တမန်တော်မြတ်နှင့်အတူ စစ်မြေပြင်တွင် ကျန်ရှိခဲ့ကြပေသည်။ ထိုသာဝကကြီးများသည် စစ်မြေပြင်တွင် တောင်ကြီးများထက်ပင် ကြံ့ခိုင်စွာ ရပ်တည် နေခဲ့ကြပေသည်။ ဤသည် အံ့မဆုံးပင် ဖြစ်သည်။ တမန်တော်မြတ်၏ စံမတူသော၊ အံ့မဆုံးသော မှန်ကန်မှု။ အလ္လာဟ်အရှင်မြတ်အား ယုံပုံအားထားမှုနှင့် တမန်တော်မြတ်၏ဇွဲသတ္တိများကို ဤမ်သစက္ခုဖြင့် ကွင်းကွင်း ကွက်ကွက် တွေ့မြင်ခဲ့ကြ ရပေသည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဖြူဖွေးသော မြင်းတကောင်ကို စီးနင်းလျက် ရှိတော်မူခဲ့သည်။ သာဝကကြီး အဗ္ဗားစ်သခင်နှင့် သာဝကကြီး အဗူစွဖယာန် အစ်ဗ်နူ အလ်ဟာရစ်ဆ်တို့နှစ်ပါးသည် တမန်တော်မြတ် စီးနင်းတော်မူလျက်ရှိသော မြင်း၏ ဇက်ကြိုးကို တဘက်စီ အသီးသီး ဆွဲကိုင်လျက် ➤➤

➢➢ ရှိခဲ့ကြပေသည်။ လက်နက် အပြည့်အစုံပါရှိသော ရန်သူစစ်သည်လေးထောင် (၄၀၀၀)တို့သည် လက်စားချေလိုသည့် ပြင်းပြသောစိတ်ဓာတ်ဖြင့် တိုက်ခိုက်လျက် ရှိခဲ့ကြသည်။ ရန်သူများသည် လေးဘက်လေးတန်မှ မြားမိုး ရွာသွန်းချလျက် ရှိခဲ့ကြပေသည်။

ထိုအချိန်တွင် တမန်တော်မြတ်၏မိတ်ဆွေများသည် ကစဥ့်ကလျား ဖြစ်နေခဲ့ကြပေသည်။ သို့ရာတွင် အမြင့်မြတ်ဆုံးသော မိတ်ဆွေတော် (ဝါ) အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်နှင့်အတူ ရှိတော်မူသည်။ တမန်တော်မြတ်နှင့်တကွ တမန်တော်မြတ်၏ လက်တဆုပ်မျှသော သာဝကကြီးများအပေါ်တွင် ကောင်းကင်မှ အလ္လာဟ်အရှင်မြတ်၏ကူညီမှုဖြင့် တည်ငြိမ်မှုသည် သက်ရောက်လာခဲ့ပေသည်။ ထိုကူညီမှုနှင့် တည်ငြိမ်မှုများသည် နောက်ဆုံးတွင် ကစဥ့်ကလျား ထွက်ပြေးနေကြသော မွတ်စ်လင်မ်စစ်သည်တော်များထံသို့ပင် ကူးစက်ရောက်ရှိလာခဲ့ပေသည်။

ဒီရေပမာ ချီတက်လာခဲ့သည့် ဟဝါဇင်န်နှင့် စကီးဖ်မျိုးနွယ်ဝင် စစ်သည်များဘက်သို့ပင် တမန်တော်မြတ်သည် မိမိ၏မြင်းကို တည်ကြည်ရဲဝံ့စွာ မောင်းနှင်လျက် ရှိတော်မူခဲ့လေသည်။ တမန်တော်မြတ်သည် စိတ်ဖြင့် အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသလျက် ရှိတော်မူခဲ့သည်။ နှုတ်ဖြင့် “ကျွန်ုပ်သည် မှန်ကန်သော တမန်တော်ဖြစ်သည်။ ကျွန်ုပ်သည် အဗ်ဒုလ်မွတ်တွလစ်ဗ်၏ သားဖြစ်သည်” ဟု အလွန် တည်ကြည်ရဲဝံ့စွာ မြွက်ဆိုလျက် ရှိတော်မူခဲ့လေသည်။ ထိုအချိန်တွင် တမန်တော်မြတ်သည် မိမိ၏နောက်လိုက် တပည့်သားတို့အား “အိုု-အလ္လာဟ်အရှင်မြတ်၏ ကျွန်အပေါင်းတို့ ကျွန်ုပ်ထံလာကြကုန်၊ ဤသို့လာကြကုန်၊ ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်ဖြစ်သည်” ဟု ဟစ်ခေါ်တော်မူခဲ့လေသည်။ ထို့နောက် တမန်တော်မြတ်၏ ညွှန်ကြားချက်အရ အသံအောင်သော သာဝကကြီးအဗ္ဗားစ်သခင်က သစ်ပင်အောက်တွင် တမန်တော်မြတ်၏ လက်ပေါ်၌ ‘ဗိုင်အတ်’ သစ္စာဆိုခဲ့ကြသော သာဝကကြီးများအား ဟစ်ခေါ်ခဲ့လေသည်။ ထိုသို့ ဟစ်ခေါ်သံကို ကြားကြသောအခါ ကြားလျှင်ကြားခြင်းပင် ကစဥ့်ကလျား ထွက်ပြေးနေသော စစ်သည်များအနက် အစီးအနင်းပါသည့် စစ်သည်တော်များသည် စစ်မြေပြင်သို့ ပြန်လှည့်လာခဲ့ကြလေသည်။ အချို့စစ်သည်များ သည် စစ်မြေပြင်ဘက်သို့ မိမိတို့၏အစီးအနင်းများကို ပြန်လှည့်ရာတွင် ကြံ့ကြာနှောင့်နှေးမှု ရှိနေပါက မိမိတို့၏လည်ပင်းတွင် သံချပ်စွပ်ပြီး အစီးအနင်းမှ ဆင်းကာ အစီးအနင်းကိုစွန့်၍ တမန်တော်မြတ်ရှိရာသို့ အဆောတလျင် ရောက်ရှိလာခဲ့ကြလေသည်။

ထိုအချိန်တွင်ပင် တမန်တော်မြတ်သည် မြေမှုန့် ကျောက်စရစ် အနည်းငယ်ကောက်ယူပြီး ရန်သူစစ်သည်များဘက်သို့ ပစ်ပေါက်လိုက်ရာ ထိုမြေမှုန့်နှင့် ကျောက်စရစ်များသည် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ဖြင့် ရန်သူအားလုံးတို့၏ မျက်နှာများနှင့် မျက်စိများတွင် ထိမှန်သွားခဲ့လေသည်။ ထိုအချိန်မှာပင် အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်မှ ကောင်းကင်တမန်များအား စေလွှတ်တော်မူလိုက်လေသည်။ ထိုကောင်းကင်တမန်တော်များ သက်ရောက်လာခြင်းသည် မွတ်စ်လင်မ်စစ်သည်များအဖို့ မတွေ့မမြင်ရသော်လည်း စိတ်ဓာတ်ရဲရင့်ရန် အကြောင်းဖြစ်၍ ကာဖိရ်စစ်သည်များအဖို့မှာကား ကြောက်လန့်ရန်အကြောင်း ဖြစ်ခဲ့လေသည်။ ကာဖိရ်စစ်သည်များသည် တမန်တော်မြတ်ပစ်ပေါက်တော်မူလိုက်သော မြေမှုန့်များကြောင့် မိမိတို့၏မျက်စိများကို ပွတ်သပ်လျက်ရှိနေစဥ် အနီး၌ရှိနေကြသော မွတ်စ်လင်မ် စစ်သည်တော်များသည် ရန်သူ စစ်သည်များအား တိုက်ခိုက် သုတ်သင်ကြလေတော့သည်။

ဤသို့အားဖြင့် ရန်သူစစ်သည်များသည် တခဏချင်း တွင်ပင် စစ်ရေးရှုံးနိမ့်၍ မွတ်စ်လင်မ်များသည် စစ်ရေးသာခဲ့ကြလေသည်။ ခရီးအတော် ကွာလှမ်းသည့်နေရာအထိ ထွက်ပြေးနေကြသော များစွာသော ➢➢

شَيْـًٔا وَّضَاقَتْ عَلَيْكُمُ الْاَرْضُ بِمَا رَحُبَتْ ثُمَّ وَلَّيْتُمْ مُّدْبِرِيْنَ ﴿٢٥﴾

ထို(ဟိုနိုင်န် တောင်ကြားတွင် စစ်ဖြစ်သော) အခါ အသင်တို့၏(စစ်သည် အရေအတွက်)များပြားမှုသည် အသင်တို့အား စိတ်ကြီးဝင် ဘဝင်မြင့်(မော်ကြွား ထောင်လွှား)စေခဲ့လေသည်။ သို့ရာတွင် ထို(အရေအတွက်) များပြားမှုသည် အသင်တို့အဖို့ လုံးဝ အသုံးမဝင်ခဲ့သည်သာမက ပထဝီမြေပြင်သည်လည်း (ဤမျှ) ကျယ်ဝန်းပါလျက်နှင့်ပင် အသင်တို့အပေါ်၌ ကျဉ်းမြောင်း၍ သွားခဲ့လေတော့သည်။ ထို့နောက် အသင်တို့သည် ကျောခိုင်း၍ ထွက်ပြေးခဲ့ကြလေသတည်း။

ثُمَّ اَنْزَلَ اللّٰهُ سَكِيْنَتَهٗ عَلٰى رَسُوْلِهٖ وَعَلَى الْمُؤْمِنِيْنَ وَاَنْزَلَ جُنُوْدًا لَّمْ تَرَوْهَا ۚ وَعَذَّبَ الَّذِيْنَ كَفَرُوْا ؕ وَذٰلِكَ جَزَآءُ الْكٰفِرِيْنَ ﴿٢٦﴾

၂၆။ ထို့နောက် တဖန် အလ္လာဟ်အရှင်မြတ်သည် မိမိအထံတော်မှ မိမိရစူလ်တမန်တော်၏ အပေါ်၌လည်းကောင်း၊ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အပေါ်၌လည်းကောင်း၊ စိတ်တည်ငြိမ်မှုကို ချပေးသနားတော်မူခဲ့လေသည်။ ၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့ မမြင်နိုင်သော စစ်သည်ရဲမက်တို့ကိုလည်း စေလွှတ်ပေးတော်မူခဲ့လေသည်။ ထို့ပြင် ထိုအရှင်မြတ်သည် 'ကာဖိရ်' မယုံမကြည် သွေဖည်ငြင်းပယ်သောသူတို့အား ပြစ်ဒဏ်ပေးတော်မူခဲ့လေသည်။ အမှန်သော်ကား ဤသည်သာလျှင် 'ကာဖိရ်' မယုံမကြည် သွေဖည်ငြင်းပယ်သောသူတို့၏ အကျိုးပင်တည်း။

---

➤➤ မွတ်စ်လင်မ် စစ်သည်များသည် တမန်တော်မြတ် ထံသို့ ပြန်လည် ရောက်ရှိ လာကြသောအခါ စစ်ပွဲမှာ ပြီးဆုံးသွားပြီး များစွာသော ရန်သူ စစ်သည်များသည် တမန်တော်မြတ်၏ ရှေ့မှောက်တွင် စစ်သုံ့ပန်းများအဖြစ် တန်းစီ မတ်တတ်ရပ်လျက် ရှိနေကြသည်ကို လည်းကောင်း၊ များစွာသော လက်ရပစ္စည်း များစုပုံနေသည်ကို လည်းကောင်း တွေ့ရှိကြ ရပေသည်။ ဤသို့အားဖြင့် အလ္လာဟ် အရှင်မြတ်သည် မွတ်စ်လင်မ်တို့အား အံ့မဆုံးဖွယ် ကူညီတော်မူ၍ ကာဖိရ်များ ကိုမူကား ဤ ဘဝ၌ပင် ပြစ်ဒဏ်ခတ်တော် မူခဲ့လေသည်။

ثُمَّ يَتُوبُ اللّٰهُ مِنۢ بَعۡدِ ذٰلِكَ عَلٰى مَنۡ يَّشَآءُ ؕ وَاللّٰهُ غَفُوۡرٌ رَّحِيۡمٌ ﴿٢٧﴾

၂၇။ ထို့နောက်တဖန် အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူ၏ဘက်သို့ *ကရုဏာတော်နှင့်လှည့်တော်မူအံ့။* [1] စင်စစ်တမူကား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့်ပေးသနားတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

يٰۤاَيُّهَا الَّذِيۡنَ اٰمَنُوۡۤا اِنَّمَا الۡمُشۡرِكُوۡنَ نَجَسٌ فَلَا يَقۡرَبُوا الۡمَسۡجِدَ الۡحَـرَامَ بَعۡدَ عَامِهِمۡ هٰذَا ۚ وَاِنۡ خِفۡتُمۡ عَيۡلَةً فَسَوۡفَ يُغۡنِيۡكُمُ اللّٰهُ مِنۡ فَضۡلِهٖۤ اِنۡ شَآءَ ؕ اِنَّ اللّٰهَ عَلِيۡمٌ حَكِيۡمٌ ﴿٢٨﴾

၂၈။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့။ မုရှ်ရစ်က်တို့ကား ညစ်ညမ်းသောသူများသာ ဖြစ်ကြကုန်၏။ သို့ဖြစ်ပေရာ ၎င်းတို့သည် ဤနှစ်ကုန်ဆုံးပြီးလျှင် 'မတ်စ်ဂျိဒေဟရာမ်' ထူးမြတ်သော *ဗလီကျောင်းတော်၏အပါးသို့ပင် ချဉ်းကပ်ခြင်း မပြုကြရချေ။* [2] ၎င်းပြင် အကယ်၍ အသင်တို့သည် ဆင်းရဲနွမ်းပါးမှုကို စိုးရိမ်ကြပါလျှင်၊ အလ္လာဟ်အရှင်မြတ်သည် အလိုရှိတော်မူပါက မကြာမြင့်မီအတွင်း အသင်တို့အား မိမိကျေးဇူးတော်ဖြင့် *ဥစ္စာပစ္စည်း ကုံလုံကြွယ်ဝ ပြည့်စုံစေတော်မူအံ့။* [3] ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အလုံးစုံကို အကြွင်းမဲ့ သိတော်မူသောအရှင်၊ ဉာဏ်အမြော်အမြင်နှင့် ပြည့်စုံတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသော သူများဘက်သို့ ကရုဏာတော်ဖြင့် ပြန်လှည့်တော်မူသည်။ ယင်းသို့ ကရုဏာတော်ဖြင့် ပြန်လှည့်တော်မူသည့် ကျေးဇူးတော်အဟုန်ကြောင့်ပင် ဟိုနိုင်န်စစ်ပွဲ ပြီးဆုံးသွားသည့် နောက်ပိုင်းတွင် ဟဝါဇင်န် မျိုးနွယ်မှ များစွာသောသူများသည် အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ခဲ့ကြပေသည်။

(၂) အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်၊ မုရှ်ရစ်က်တို့၏ အင်အားစုများကို ချိုးဖျက်၍ အရေဗျနိုင်ငံ၏ မြို့တော်ဖြစ်သော မက္ကာမြို့တော်ကို မွတ်စ်လင်မ်တို့အား အောင်နိုင်စေတော်မူသည့်အခါ အရဗ်မျိုးနွယ်စုများသည် အုပ်စုလိုက် အုပ်စုလိုက် အသီးသီး အစ္စလာမ်သာသနာအတွင်းသို့ ဝင်လာခဲ့ကြလေသည်။ ထိုဟစ်ဂျ်ရီသက္ကရာဇ် (၉)ခုနှစ်နောက်ပိုင်းမှစ၍ ကာဖိရ်မုရှ်ရစ်က် တဦးတယောက်မျှ မတ်စ်ဂျိဒေဟရာမ် အတွင်းသို့ ဝင်ရန် ➤➤

▶▶ ဝေးစွ၊ "ထိုကျောင်းတော်အနီး (ဝါ) ဟရမ်ဟူ၍ သတ်မှတ်ထားတော်မူသော နယ်နမိတ်အတွင်းသို့ အလျှင်းမဝင်ရ" ဟူ၍ အတည့်အလင်း ကြေငြာတော်မူလိုက်လေသည်။ အဘယ်ကြောင့်ဆိုသော် ယင်းကာဖိရ်၊ မုရှ်ရစ်က်တို့၏ စိတ်နှလုံးများသည် အလွန်တရာမျှပင် ညစ်ညမ်းညစ်ထေး မစင်ကြယ်၊ မသန့်ရှင်းပေရာ ယင်းသို့သော ကာဖိရ်၊ မုရှ်ရစ်က်တို့သည် အလွန်တရာမျှ သန့်ပြန့်စင်ကြယ်သော မင်္ဂလာအပေါင်းနှင့် ပြည့်စုံသော 'တောင်ဟီးဒ်' ၏ ဗဟိုဌာနတွင် ဝင်ထွက်သွားလာရန် အလျှင်း မထိုက်တန်ကြပေ။ ထို့ပြင်တဝ တမန်တော်မြတ်မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ကလည်း ကာဖိရ်၊ မုရှ်ရစ်က်၊ ယဟူဒီ၊ နဆွ်ရာနီ အားလုံးတို့အား အရေဗျကျွန်းဆွယ်မှ နှင်ထုတ်ရန် အမိန့်ပေးတော်မူခဲ့လေသည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ နောက်ဆုံးမှာကြားချက်အရ သာဝကကြီးအုမရ်(ရဍေ့.ယလ္လာကို တအာလာအန်ဟု) သခင်၏လက်ထက်တွင် အရေဗျကျွန်းဆွယ်မှ ကာဖိရ်၊ မုရှ်ရစ်က်၊ ယဟူဒီ၊ နတ်ဆွ်ရာနီ အားလုံးတို့အား တယောက်မကျန် နှင်ထုတ်နိုင်ခဲ့လေသည်။

ယခုမူ အရေဗျကျွန်းဆွယ်မှ ကာဖိရ်၊ မုရှ်ရစ်က်တို့၏ ကိုယ့်တိုင်း၊ ကိုယ့်ပြည်၊ ကိုယ့်ဌာနီအဖြစ်သော်လည်းကောင်း၊ အာဏာဖြင့် လွှမ်းမိုး၍သော်လည်းကောင်း၊ နေထိုင်ခြင်းကို မွတ်စ်လင်မ်တို့အဖို့ လက်ခံနှစ်သက်နိုင်ရန် အကြောင်း အလျင်းမရှိတော့ပေ။ တတ်စွမ်းနိုင်သမျှ ယင်းကာဖိရ် မုရှ်ရစ်က်၊ ယဟူဒီ၊ နတ်ဆွ်ရာနီ အားလုံးတို့အား အရေဗျကျွန်းဆွယ်မှ သုတ်သင်ရှင်းလင်း လုံးဝနှင်ထုတ်ခြင်းသည် မွတ်စ်လင်မ်တို့၏ 'ဖွရည်ွ' မလုပ်မနေရ တာဝန်ကြီးပင် ဖြစ်ပေတော့သည်။

**ခမွှသတ်။**

ဟနဖီဂိုဏ်း၏ ယူဆချက်အရ အကယ်၍ ကာဖိရ် တဦးတယောက်သည် ခရီးသည် အာဂန္တုအဖြစ် ခေတ္တခဏ ဝင်ထွက် သွားလာလိုပါသော် အေ့မာမ်က ယင်းသို့ ဝင်ထွက်သွားလာမှုသည် အန္တရာယ်တစုံတရာမရှိဟု ယူဆ၍ခွင့်ပြုပါက ဝင်ထွက်သွားလာခွင့် ပြုနိုင်ပေသည်။ ယင်းသို့ အေ့မာမ်၏ ခွင့်ပြုချက်ဖြင့် ခရီးသည် အာဂန္တုအဖြစ် ခေတ္တခဏ ဝင်ထွက်သွားလာခွင့်ရှိသော်လည်း ဟဂ်ျ၊ အွန်မ်ရဟ်ပြုလုပ်ရန်ရည်စူး၍ ဝင်ထွက် သွားလာလိုသည့် မည်သည့်ကာဖိရ်ကိုမျှ ခွင့်ပြုရမည် မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က "သတိ၊ ယခုနှစ်ကုန်ဆုံးပြီးနောက်တွင် မုရှ်ရစ်က် တဦးတယောက်မျှ ဟဂ်ျမပြုရ" ဟု အတည့်အလင်း မိန့်ဆိုပညတ်တော်မူခဲ့ခြင်းကြောင့် ဖြစ်ပေသည်။

**ဖော်ပြချက်။**

ဤအာယတ်တော်တွင် ပါရှိသည့် 'ဤနှစ်' ဟူသည် ဟစ်ဂ်ျရီသက္ကရာဇ် (၉)ခုနှစ်ကို ဆိုလိုသည်။ ထိုနှစ်တွင် သာဝကကြီးအဗူဗတ်က်ရ် (ရဍေ့.ယလ္လာဟို တအာလာအန်ဟု) ခေါင်းဆောင်၍ ဟဂ်ျပြုခဲ့လေသည်။ 'ဤနှစ်နောက်' ဟူသည် ဟစ်ဂ်ျရီသက္ကရာဇ် (၁၀)ခုနှစ်ကို ဆိုလိုသည်။ ထိုနှစ်မှစ၍ "မုရှ်ရစ်က်များ ဟရမ်အတွင်းသို့ မဝင်ရ" ဟူသော အမိန့်တော်သည် အတည်ဖြစ်ခဲ့လေသည်။ ကြည့်-မာဂျိဒီ။

② "ဟရမ်" အတွင်းသို့ မုရှ်ရစ်က်များအား ဝင်ထွက်သွားလာခြင်းကို ပိတ်ပင်မြစ်တားတော်မူလိုက်သည့်အခါ၊ ယင်းသို့ ပိတ်ပင်မြစ်တားတော်မူလိုက်ခြင်းအားဖြင့် 'အရောင်းအဝယ် ပျက်ပြားသွားလိမ့်မည်၊ မုရှ်ရစ်က်တို့ ယူဆောင်လာလေ့ရှိသော ကုန်ပစ္စည်းများသည်လည်း ရပ်ဆိုင်းသွားလိမ့်မည်' ဟု မွတ်စ်လင်မ်တို့က တွေးထင်ပူပင်မိခဲ့ကြလေသည်။ ယင်းသို့ မတွေးမထင် မပူမပင်ကြရန်အတွက် ဤအာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။ အဘယ်ကြောင့်ဆိုသော် ချမ်းသာကြွယ်ဝမှုသည် အလ္လာဟ်အရှင်မြတ်၏ အလိုတော်အတိုင်းသာဖြစ်သည်။ ထိုအရှင်မြတ် အလိုရှိတော်မူပါလျှင် မွတ်စ်လင်မ်တို့အား တခဏချင်းအတွင်း ကုံလုံကြွယ်ဝအောင် ▶▶

قَاتِلُوا الَّذِينَ لَا يُؤْمِنُونَ بِاللَّهِ وَلَا بِالْيَوْمِ الْآخِرِ وَلَا يُحَرِّمُونَ مَا حَرَّمَ اللَّهُ وَرَسُولُهُ وَلَا يَدِينُونَ دِينَ الْحَقِّ مِنَ الَّذِينَ أُوتُوا الْكِتَابَ حَتَّىٰ يُعْطُوا الْجِزْيَةَ عَن يَدٍ وَهُمْ صَاغِرُونَ ﴿٢٩﴾

၂၉။ (အို-မုအ်မင်န် သက်ဝင်ယုံကြည်သူအပေါင်းတို့) အသင်တို့သည် အတိတ်ခေတ် ကျမ်းဂန်ရရှိသောသူတို့ကို (မိမိတို့၏)လက်ဖြင့် အောက်ကျို့၍ လူခွန်တော်ကိုကြည်ဖြူစွာ ဆက်သခြင်း မပြုသမျှ ကာလပတ်လုံး တိုက်ခိုက်ကြလေကုန်။ ထိုသူတို့သည် အလ္လာဟ် အရှင်မြတ်ကိုလည်း ယုံကြည်ကြသည် မဟုတ်ပေ။ နောက်ဆုံးနေ့ကိုလည်း ယုံကြည်ကြသည် မဟုတ်ချေ။ ထို့ပြင် ယင်းသူတို့သည် အလ္လာဟ် အရှင်မြတ် ကလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်ကလည်းကောင်း၊ 'ဟရာမ်' ဟူ၍ တားမြစ်ထားတော်မူသောအရာများကို 'ဟရာမ်' တားမြစ်ထားသောအရာဟူ၍ မယူဆကြချေ။ ထိုနည်းတူစွာရင်းတို့သည် မှန်ကန်သော(အစ္စလာမ်)သာသနာတော်ကိုလည်း ယုံကြည်လက်ခံခြင်းမပြုကြချေ။

وَقَالَتِ الْيَهُودُ عُزَيْرٌ ابْنُ اللَّهِ وَقَالَتِ النَّصَارَى الْمَسِيحُ ابْنُ اللَّهِ ۖ ذَٰلِكَ قَوْلُهُم بِأَفْوَاهِهِمْ ۖ

၃၀။ စင်စစ်သော်ကား ယဟူဒီတို့က "အုဇိုင်ရ်" သည်အလ္လာဟ်အရှင်မြတ်၏ သားတော်ဖြစ်သည်ဟူ၍ ပြောဆိုခဲ့ကြလေသည်။ နဆွာရာနီတို့ကလည်း "မစီဟ်" သည် အလ္လာဟ်အရှင်မြတ်၏ သားတော်ဖြစ်သည် ဟူ၍ ပြောဆိုခဲ့ကြလေသည်။

---

➤➤ ပြုလုပ်ပေးနိုင်ပေသည်။ သို့ပြုလုပ်ပေးနိုင်သည့်အတိုင်း အလ္လာဟ်အရှင်မြတ်သည် မိမိ၏အလိုတော်ဖြင့် အာရေဗျတနိုင်ငံလုံးကို မွတ်စ်လင်မ်ဖြစ်လာစေတော်မူခဲ့လေသည်။ အတိုင်းတိုင်း၊ အပြည်ပြည်မှ ကုန်ပစ္စည်းများသည်လည်း အများအပြား ဝင်ရောက်လာခဲ့ပေသည်။ ကောင်းကင်မှမိုးလည်း များပြားစွာ ရွာသွန်းချသဖြင့် ကောက်ပဲသီးနှံများလည်း အများအပြား ထွက်ပေါ်လာခဲ့လေသည်။ ထို့ပြင်တဝ မွတ်စ်လင်မ်များသည် စစ်ပွဲများ အမြောက်အမြားကို အောင်နိုင်ခဲ့ကြ၏။ လက်ရပစ္စည်းလည်း အမြောက်အမြား ရရှိခဲ့ကြလေသည်။ ကိတာဗီများထံမှ အခွန်တော်လည်း အများအပြားပင် ရရှိခဲ့ကြလေသည်။ ဤသို့အားဖြင့် အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့အား အဘက်ဘက်မှ ကုံလုံကြွယ်ဝအောင် ပြုလုပ်ပေးတော်မူခဲ့လေသည်။

يُضَاهِـُٔونَ قَوْلَ الَّذِينَ كَفَرُوا مِن قَبْلُ ۚ قَاتَلَهُمُ اللَّهُ ۚ أَنَّىٰ يُؤْفَكُونَ ﴿٣٠﴾

ဤသည်ကား ၎င်းတို့ မိမိတို့နှုတ်ဖြင့် ပြောဆိုကြသော (အခြေအနေ ကင်းမဲ့သည့်) စကားမျှသာ ဖြစ်ချေသတည်း။ ၎င်းတို့သည် (မိမိတို့) အလျင်ရှေးအထက်ကျော်ကာလ၌ ရှိခဲ့ကြသော ကာဖိရ် ယုံကြည်မှုကင်းမဲ့သောသူတို့၏ ပြောဆိုမှုကိုလိုက်၍ တုခဲ့ကြလေသည်။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ဖျက်ဆီးတော်မူပါစေသတည်း။ ၎င်းတို့သည် (အမှန်ကိုပယ်၍ အမှားဘက်သို့) အသို့လျှင်ပြန်လှည့်သွားကြသနည်း။

اتَّخَذُوا أَحْبَارَهُمْ وَرُهْبَانَهُمْ أَرْبَابًا مِّن دُونِ اللَّهِ وَالْمَسِيحَ ابْنَ مَرْيَمَ وَمَا أُمِرُوا إِلَّا لِيَعْبُدُوا إِلَٰهًا وَاحِدًا ۖ لَّا إِلَٰهَ إِلَّا هُوَ ۚ سُبْحَانَهُ عَمَّا يُشْرِكُونَ ﴿٣١﴾

၃၁။ ထိုသူတို့သည် မိမိတို့၏ ဓမ္မဆရာတို့ကိုလည်းကောင်း၊ ဘုန်းကြီး ရဟန်းတို့ကိုလည်းကောင်း၊ 'မရ်ယမ်' ၏သားတော် 'မစီဟ်' ကိုလည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အား စွန့်၍ (မိမိတို့၏)*အရှင်သခင်များ ပြုလုပ်ထားခဲ့ကြလေသည်။*[၁] အမှန်စင်စစ်သော်ကား ထိုသူတို့သည် တဆူတည်းသော ကိုးကွယ်ရာ အရှင်မြတ်အားသာလျှင် *ခဝပ်ကိုးကွယ်ရန် အမိန့်ပေးတော်မူခြင်းကို ခံခဲ့ကြရလေသည်။*[၂] ထို(တဆူတည်းသော)အရှင်မြတ်မှတပါး အခြားခဝပ်ကိုးကွယ်ရာအရှင်ဟူ၍ အလျှင်းမရှိပြီ။ ထိုအရှင်မြတ်သည် ၎င်းတို့တွဲဘက် နှိုင်းယှဉ်(ကိုးကွယ်) ကြသည်တို့မှ (လုံး၀) သန့်ရှင်းစင်ကြယ်တော်မူချေသတည်း။

---

(၁) ဤအာယတ်တော်သည် မွတ်စ်လင်မ်များအဖို့လည်း အလွန်တရာ တရားရဖွယ်ရာ ဖြစ်သည်။ အချို့မွတ်စ်လင်မ်တို့သည် များစွာသော ရှေ့ဆောင်ကြီးများနှင့် ဆရာ့ဆရာကြီးများ၏ အမိန့်ဩဝါဒများကို မလွဲမသွေ နာယူရကောင်းစေဟူ၍ယူဆကာ လက်တွေ့အားဖြင့် ၎င်းဆရာ့ဆရာကြီးများအား လုံး၀ အပြစ်ကင်းစင်သူများ ဖြစ်ကြသည်ဟု ယူဆထားကြရုံသာမက အလ္လာဟ်အရှင်မြတ်၏ အဆင့်အတန်းသို့ပင် ပို့ထားကြပေသည်။ ၎င်းတို့သည် ကုရ်အာန်ကျမ်းတော်မြတ်တွင်လာရှိသည့် ရှင်းလင်းပြတ်သားသောအာယတ်တော်များ၊ မိမိစိတ်တွင်းမှလေးနက်စွာ ယုံကြည်ထားသည့် ယုံကြည်ချက်များနှင့် မျက်ဝါးထင်ထင် တွေ့မြင်နေရသော အထောက်အထားများကို စွန့်လွှတ်ကောင်း စွန့်လွှတ်ကြမည်ဖြစ်သော်လည်း မိမိတို့၏ဆရာ့ဆရာကြီးများ၏ အမိန့်များကိုမူ ➢➢

يُرِيدُونَ أَنْ يُطْفِـُٔوا نُورَ اللّٰهِ بِأَفْوَاهِهِمْ وَيَأْبَى اللّٰهُ إِلَّآ أَنْ يُتِمَّ نُورَهُ وَلَوْ كَرِهَ الْكٰفِرُونَ ٣٢

၃၂။ ၎င်းတို့သည် *အလ္လာဟ် အရှင်မြတ်၏ ရောင်ခြည်တော်ကို* ^၁ မိမိတို့၏ပါးစပ်များဖြင့် ငြိမ်းစေလိုကြကုန်၏။ သို့ရာတွင်မူကား အလ္လာဟ်အရှင်မြတ်သည် "ကာဖိရ်" မယုံကြည် သွေဖည်ငြင်းပယ်သောသူတို့က မနှစ်မြို့ကြသော်လည်း မိမိ၏ ရောင်ခြည်တော်ကို ပြည့်ဝစုံလင်စေတော်မူခြင်းမှတပါး (အခြား) မည်သည့်တစုံတရာကိုမျှ သဘောတူတော်မူသည် မပေါ်ပေ။

---

➤➤ စွန့်လွှတ်ကြမည် မဟုတ်ပေ။ အီမာမ်ရာဇီသခင်က ဤနေရာတွင် မိမိဆရာ၏ပြောပြချက်ကို ဖော်ပြထား၏။ ထိုဆရာကြီးက ပြောပြခဲ့သည်မှာ "ကျွန်ုပ်သည် မိမိတို့၏ ဆရာ့ဆရာများ၏စကားများကို မစူးစမ်း မဆင်ခြင် မသုံးသပ်ပဲ (လှေနံဓားထစ်)လိုက်နာကြသော နောက်လိုက်တပည့်အချို့ကို တွေ့ခဲ့ဖူး၏။ ကျွန်ုပ်သည် ၎င်းတို့၏ရှေ့တွင် ၎င်းတို့၏လမ်းစဉ် မှားယွင်းနေကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းတော်မြတ်၏ အာယတ်တော်များကို ဖတ်ပြခဲ့၏။ သို့ရာတွင် ၎င်းတို့သည် ကုရ်အာန်ကျမ်းမြတ်လာ ဒေသနာတော်များကိုပင် မနာခံခဲ့ကြ။ ဂရုမမူခဲ့ကြပေ။ ထိုမျှမက ၎င်းတို့က မိမိတို့၏ "ဆရာ့ဆရာကြီးများ၏လမ်းစဉ်သည် ကုရ်အာန် ကျမ်းလာ အာယတ်တော်များနှင့် အသို့လျှင် ဆန့်ကျင်နိုင်အံ့နည်း" ဟူ၍ပင် အံ့သြနေကြ၏။ ၎င်းတို့သည် မိမိတို့၏ဆရာ့ဆရာများ၏ အမိန့်သြဝါဒ၏သဘောကို ပြုပြင်ပြောင်းလဲ ယူဆကြရမည့်အစား ကုရ်အာန်ကျမ်းလာ အာယတ်တော်များ၏ အနက်သဘောကိုသာ ပြောင်းလဲလိုက်ကြပေသည်။

အီမာမ်ရာဇီသခင်သည် မိမိဆရာ၏ အထက်ဖော်ပြပါ ပြောပြချက်ကို ရေးသားပြီးနောက် "အကယ်၍ အသင်သည် ကောင်းစွာ စူးစမ်းဆင်ခြင်ပါက လူ့လောကရှိ မြောက်မြားစွာသော သူတို့၏ သွေးကြောများတွင် ထိုရောဂါဆိုး ပျံ့နှံ့လျက်ရှိသည်ကို အသင် တွေ့ရှိရပေမည်" ဟု ဆက်လက်ရေးသား ဖော်ပြထား၏။

မာဂျိဒီ။အ-၂။ စ-၄၀၂။ အအ-၅၆။

(၂) ပွင့်တော်မူခဲ့သမျှသော နဗီ၊ ရစူလ်တမန်တော်(အလိုင်ဟိမ္မတ်စ္စလာမ်)အပေါင်းတို့သည် "တဆူတည်းဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်ကိုသာလျှင် ခဝပ်ကိုးကွယ်ရမည့်" အကြောင်း အသီးသီး ဟောကြားတော်မူခဲ့ကြကုန်၏။ ယဟူဒီ နဆွ်ရာနီများသည်လည်း ၎င်းတို့၏ နဗီတမန်တော်များမှ တဆင့် "အလ္လာဟ်အရှင်မြတ် တပါးတည်းကိုသာလျှင် ခဝပ်ကိုးကွယ်ကြရန်" အမိန့်ပေးခြင်း ခံခဲ့ကြရပေသည်။

(၁) ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်၏ "နူရ်" ရောင်ခြည်တော်ဟူသည် အစ္စလာမ်သာသနာကို ဆိုလိုသည်။

အစ္စလာမ်သာသနာတော် ထွန်းကားလာခဲ့သည်မှာ နှစ်ပေါင်း ၁၄၀၀-ကျော်ခဲ့ပေပြီ။ အစ္စလာမ်သက်တမ်းတလျှောက်လုံးတွင် ယဟူဒီ၊ နဆွ်ရာနီ၊ ကာဖိရ်၊ မုရှ်ရစ်က် စသည့် အစ္စလာမ်သာသနာ့ ရန်သူကြီးငယ်အားလုံးတို့သည် နည်းပရိယာယ်အမျိုးမျိုးတို့ဖြင့် အစ္စလာမ်သာသနာကို ချေမှုန်းတိုက်ဖျက်ရန် အစွမ်းကုန်ကြိုးစားခဲ့ကြပေသည်။ ယခုလည်းကြိုးစားလျက်ပင်။ နောင်ကိုလည်း ကြိုးစားကြဦးမည်ပင်။ ➤➤

هُوَ الَّذِيْٓ اَرْسَلَ رَسُوْلَهٗ
بِالْهُدٰى وَدِيْنِ الْحَقِّ
لِيُظْهِرَهٗ عَلَى الدِّيْنِ كُلِّهٖ ۙ
وَلَوْ كَرِهَ الْمُشْرِكُوْنَ ﴿٣٣﴾

၃၃။ ထို(အလ္လာဟ်) အရှင်မြတ်သည် အကြင်
အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ထို အရှင်မြတ်သည်
'မုရှ်ရစ်က်' များက မနှစ်သက်ကြသော်လည်း မိမိ
ရစူလ်တမန်တော်အား *ဘာသာသာသနာ အားလုံးတို့*
*အပေါ်ဝယ် လွှမ်းမိုးစေခြင်းငှာ* [၁] တရားဓမ္မနှင့်အတူ
လည်းကောင်း၊ မှန်ကန်သော 'ဒီန်' သာသနာနှင့်အတူ
လည်းကောင်း၊ စေလွှတ်တော်မူခဲ့လေသတည်း။

يٰٓاَيُّهَا الَّذِيْنَ اٰمَنُوْٓا اِنَّ
كَثِيْرًا مِّنَ الْاَحْبَارِ
وَالرُّهْبَانِ لَيَاْكُلُوْنَ
اَمْوَالَ النَّاسِ بِالْبَاطِلِ

၃၄။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်း
တို့၊ ဇကေန်စင်စစ် များစွာသော (ယဟူဒီ၊ နဆွ်ရာနီ)
ဓမ္မဆရာများသည်လည်းကောင်း၊ ဘုန်းကြီးရဟန်း
များသည်လည်းကောင်း၊ လူတို့၏ဥစ္စာပစ္စည်းများကို
*မတရားသောနည်းဖြင့် စားသုံးကြကုန်၏။* [၂] ၎င်းပြင်
ထိုသူတို့သည် (လူတို့အား) အလ္လာဟ်အရှင်မြတ်၏
လမ်းတော်မှ ပိတ်ပင်တားဆီးကြကုန်၏။

---

➤➤ သို့တစေလည်း အစ္စလာမ်သာသနာသည် မှေးမှိန်ဆုတ်ယုတ်ခြင်း မရှိသည့်အပြင် တနေ့တခြား ထွန်းကားလျက်ရှိပေသည်။ အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်သည့် လူဦးရေမှာလည်း တနေ့တခြား တိုးပွားများပြားလျက်ပင် ရှိပေသည်။

ငွေကို ရေကဲ့သို့သုံးကာ စနစ်တကျ စီမံကိန်းများချပြီး နဆွ်ရာနီ သာသနာပြုနေကြသော နဆွ်ရာနီ မစ်ရှင်ဝင်များသည်ပင် Africa စသည့်နိုင်ငံများတွင် အစ္စလာမ်သာသနာကို မယှဉ်ပြိုင်နိုင်ခဲ့ကြောင်း ဝန်ခံထားကြရသည်ကို တွေ့ရှိရပေသည်။ ကြည့်-မာဂျိဒီ။ အ-၂။ စ - ၄၀၂။ အအ-၆၀။

(၁) အစ္စလာမ်က ကျန်ဘာသာအားလုံးတို့ကို လွှမ်းမိုးခြင်းသည် နှစ်မျိုးနှစ်စားရှိသည်။

(၁) သက်သေသာဓက အထောက်အထား အကိုးအကားအားဖြင့် လွှမ်းမိုးခြင်း၊ ဤသည့် လွှမ်းမိုးခြင်းမျိုးကား ခေတ်တိုင်းအချိန်တိုင်းအတွက် ဖြစ်ပေသည်။

(၂) အာဏာစက်ဖြင့် လွှမ်းမိုးခြင်း၊ စိုးမိုးအုပ်ချုပ်ခြင်း။

ဤသည် မွတ်စ်လင်မ်များ အစ္စလာမ်၏မဏ္ဍိုင်များကို မှန်ကန်စွာ လိုက်နာကျင့်သုံး၍ အထူးသဖြင့် အီမာန်နှင့် တာက္ကဝါခိုင်မြဲကာ ဂျိဟာဒ်ကို စွမ်းစွမ်းတမန် ပြုလုပ်ကြသည့်အပေါ်တွင် မူတည်ပေသည်။ (တနည်းအားဖြင့် 'မွတ်စ်လင်မ်များသည် မွတ်စ်လင်မ်ပီသကြလျှင် အင်ရှာအလ္လာဟ် အချိန်မရွေး အာဏာစက်ကိုလည်း ရရှိနိုင်ကြသည်' ဟူ၏)။ ကိယာမတ်ဆိုက်ရောက်ခါနီး တမန်တော် အီစာ(အလိုင်ဟစ္စလာမ်) ဆင်းသက်လာတော် မူသည့်အခါ ကမ္ဘာတွင် အစ္စလာမ်သာသနာ တခုတည်းသာလျှင် ထွန်းကားလျက် ရှိပေမည်။ ကျန်ဘာသာ သာသနာ အားလုံးတို့သည် ပျောက်ပျက်၍သွားပေမည်။

وَيَصُدُّونَ عَنْ سَبِيلِ اللَّهِ وَالَّذِينَ يَكْنِزُونَ الذَّهَبَ وَالْفِضَّةَ وَلَا يُنفِقُونَهَا فِي سَبِيلِ اللَّهِ فَبَشِّرْهُم بِعَذَابٍ أَلِيمٍ ﴿٣٤﴾

ထို့အပြင် အကြင်သူတို့သည် ရွှေ၊ ငွေ၊ (ရတနာပစ္စည်း)များကို စုဆောင်းသိုမှီး၍ ^၁ ထားရှိကြကုန်၏။ သို့ရာတွင် ထိုသူတို့သည် ၎င်း(ရွှေ၊ ငွေ၊ ရတနာများ)ကို အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ သုံးစွဲကြသည်မဟုတ်ပေ။ (အို - နဗီတမန်တော်) အသင်သည် ထိုသူတို့အား နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်ကို ခံကြရမည့်အကြောင်း သတင်းကောင်း ပြောကြားပါလေ။

---

(၂) ယဟူဒီ၊ နဆွာရာနီများ၏ များစွာသော ဓမ္မဆရာများနှင့် ဘုန်းကြီးများသည် မိမိတို့၏ တပည့်နောက်လိုက်များထံမှ ငွေကြေးများကိုယူ၍ ကျမ်းဂန်လာဒေသနာတော်များ၊ ဗျာဒိတ်တော်များနှင့် ဓမ္မသတ်များကို ကပြောင်းကပြန် ပြုလုပ်လေ့ရှိခဲ့ကြသည်။ တပည့်နောက်လိုက်များကလည်း မိမိတို့၏ ဓမ္မဆရာများနှင့် ဘုန်းကြီးရဟန်းများကို ကိုးကွယ်ရာ အရှင်သခင်၏ အဆင့်အတန်း၌ ထားရှိကာ ၎င်းတို့ အမှားမှား အယွင်းယွင်း ပြောဆိုကြသော စကားများကိုပင် ကျမ်းဂန်လာဒေသနာတော်များ ဖြစ်သည်ဟူ၍ မှတ်ယူခဲ့ကြပေသည်။ ဤသို့အားဖြင့် ယင်းဓမ္မဆရာများနှင့် ဘုန်းကြီးရဟန်းများသည် မိမိတို့၏ခေါင်းဆောင်မှု တည်တံ့စေရန်နှင့် ငွေကြေးရယူနိုင်ရန်အတွက် တပည့်နောက်လိုက်တို့အား လိမ်လည်လှည့်ဖြားကာ မှန်ကန်သော တရားဒေသနာတော်များမှ ပိတ်ပင်တားဆီးခဲ့ကြလေသည်။ ယင်းကဲ့သို့ ပြုလုပ်ခြင်းမှာ အကယ်၍ တပည့်နောက်လိုက်များသည် မှန်ကန်သော တရားဒေသနာတော်များကို ရရှိ၍ ၎င်းတို့၏ညွှတ်ကွင်းမှ ထွက်သွားကြသော် ၎င်းတို့၏ဝင်ငွေများသည် ပိတ်ဆို့သွားမည့်အတွက်ကြောင့် ၎င်းတို့သည် မိမိတို့၏နောက်လိုက်များအား မှန်ကန်သော တရားများကို မပြခဲ့ကြခြင်းဖြစ်သည်။

ဤသည့်ဖြစ်ရပ်များကို မွတ်စ်လင်မ်တို့အား ဟောကြားတော်မူခြင်းမှာ မွတ်စ်လင်မ်များသည် အတိတ်ခေတ်ရှိ လူမျိုးများ ပျက်စီးသွားခဲ့ကြရသည့် အကြောင်းများမှာ တရားယူ၍ မိမိတို့ကိုယ်တိုင် ဆင်ခြင်နိုင်ကြရန်ပင်ဖြစ်သည်။

လူမျိုးတမျိုးပျက်စီးရသည့် အကြောင်းကြီးများတွင် အောက်ဖော်ပြပါ အုပ်စုသုံးစု၏ လမ်းလွဲမှု၊ တာဝန်ပျက်မှုများသည် အဓိကအကြောင်းများပင်ဖြစ်သည်။

(၁) ဓမ္မဆရာများ၊ ဘုန်းကြီးရဟန်းများ၊
(၂) ချမ်းသာကြွယ်ဝသူများ၊
(၃) တိုင်းပြည်ခေါင်းဆောင်များ။

ဤအကြောင်းနှင့်စပ်လျဉ်း၍ အဗ်ဒုလ္လာဟ် အစ်ဗ်နု မုဗာရတ်က်က အောက်ပါအတိုင်း လင်္ကာတပုဒ် စီကုံးရေးဆိုခဲ့သည်။

သာသနာကို ဖျက်ဆီး သူများမှာ ဘုရင်များ၊ ပညာရှင်ဆိုးများ နှင့် ရဟန်းဆိုးများသာ ဖြစ်ခဲ့ကြပေသည်။

(၁) အဘိဓာန်အရ 'ကန့်ဇ်' ဟူသည် အိုးခွက်တခုခုတွင် သိမ်းဆည်းထားရှိသော ပစ္စည်း သို့မဟုတ် မြေ၌ မြှုပ်နှံထားသော ပစ္စည်းကို ဆိုလိုသည်။

➤➤

يَوْمَ يُحْمَىٰ عَلَيْهَا فِي نَارِ جَهَنَّمَ فَتُكْوَىٰ بِهَا جِبَاهُهُمْ وَجُنُوبُهُمْ وَظُهُورُهُمْ هَٰذَا مَا كَنَزْتُمْ لِأَنفُسِكُمْ فَذُوقُوا مَا كُنتُمْ تَكْنِزُونَ ﴿٣٥﴾

၃၅။ (ယင်းပြစ်ဒဏ်သည် ၎င်းတို့၌ အကြင်နေ့တွင် ကျရောက်အံ့)။ထိုနေ့တွင် ယင်း ရွှေ၊ ငွေ(ရတနာများ) သည် 'ဂျဟန္နမ်' ငရဲမီးတွင် ဖုတ်မြှိုက်ခြင်းခံရအံ့။ ထို့နောက် ထိုသူတို့၏နဖူးများ(သည်လည်းကောင်း၊) ထိုသူတို့၏နံဘေးများ(သည်လည်းကောင်း၊) ထိုသူတို့၏ကျောက်ကုန်းများ(သည်လည်းကောင်း၊) ယင်း (မီးဖုတ်ထားပြီးဖြစ်သော) ရွှေငွေဖြင့် *တံဆိပ်ခတ်နှိပ်ခြင်းကိုခံကြရလတ္တံ့။* [၁] **(တနည်း)** ထို့နောက် ထိုသူတို့၏ နဖူး၊ နံဘေးနှင့် ထိုသူတို့၏ကျောက်ကုန်းတို့သည် ယင်း(မီးဖုတ်ပြီးဖြစ်သော)ရွှေ၊ ငွေဖြင့် တံဆိပ်ခတ်နှိပ်ခြင်းကို ခံကြရလတ္တံ့။

---

➤➤ သို့ရာတွင် "ရှရီအတ်" အစ္စလာမ် တရားဥပဒေတွင်မူ "ကန့်ဇ်" ဟူသည် ဇကာတ်မပေးသော ပစ္စည်းကို ဆိုလိုသည်။

အထက်ဖော်ပြပါ ဖွင့်ဆိုချက်များကို ထောက်ရှုခြင်း အားဖြင့် ဇကာတ်မပေးပဲ မုချသုံးစွဲရမည့် နေရာများတွင် မသုံးပဲ ဥစ္စာပစ္စည်း စုဆောင်းခြင်းမျိုး ကိုသာလျှင် ကုရ်အာန်ကျမ်းမြတ်၌ အပြစ်ဆိုထားတော်မူကြောင်း သိရှိနိုင်ပေသည်။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ တပည့်သာဝကကြီးများတွင် ဆင်းရဲနွမ်းပါးသူ အမြောက်အမြားရှိသကဲ့သို့ ဥစ္စာပစ္စည်း ကုံလုံချမ်းသာကြွယ်ဝသူ အမြောက်အမြား ရှိခဲ့ကြသည်မှာလည်း အထင်အရှားပင် ဖြစ်သည်။ ဥပမာ-သာဝကကြီး အွတ်ဆ်မာန်ဃနီ။ သာဝကကြီး တွာလ်ဟဟ်၊ သာဝကကြီး အဗ်ဒုရ်ရဟ်မာန် အစ်ဗ်နအောက်ဖ် . . . စသည့် သာဝကကြီးများသည် ဥစ္စာနေ ကုံလုံကြွယ်ဝသော သာဝကကြီးများ ဖြစ်ခဲ့ကြပေသည်။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ တပည့်သာဝကကြီးများအနက် များစွာသော သာဝကကြီးများသည် ဥစ္စာပစ္စည်းများကို ရှာဖွေဆည်းပူးခဲ့ကြသည်။ ရှာဖွေဆည်းပူးရရှိသော ဥစ္စာပစ္စည်း များကိုလည်း သုံးစွဲလှူဒါန်းခဲ့ကြသည်။ ဥပမာ-သာဝကကြီး အဗ်ဒုရ်ရဟ်မာန် အစ်ဗ်နအောက်ဖ်၊ သာဝကကြီး တွာလ်ဟဟ်။ ထိုသို့သော သာဝကကြီးများအား မည်သူတဦးတယောက်ကမျှလည်း အပြစ်မဆိုခဲ့ပေ။

မဒါရစ်က်၊ ကြည့်-မာဂျိဒီ။ အ-၂။ စ-၄၀၃။ အအ-၆၃။

(၁) ဥစ္စာပစ္စည်းကို ရှာဖွေစုဆောင်း၍ အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ မလှူဒါန်းမသုံးစွဲသောသူများ (ဥပမာ-ဇကာတ်မပေးသောသူများ၊ သုံးစွဲရန် မုချတာဝန်ရှိသော ကိစ္စများတွင် မသုံးစွဲသောသူများ)သည် နောင်ကိယာမတ်နေ့တွင် ၎င်းတို့စုဆောင်းထားခဲ့ကြသည့် ရွှေ၊ ငွေများကို မီးမြှိုက်၍ ၎င်းတို့၏နဖူး၊ နံဘေး၊ ကျောက်ကုန်းများတွင် တံဆိပ်ခတ်နှိပ်တော်မူမည်ဖြစ်သည်။ ➤➤

(ထို့ပြင် ၎င်းတို့အား ပြစ်ဒဏ်ပေးသော 'မလာအီကဟ်' ကောင်းကင်တမန်တို့က) " ဤကား အသင်တို့သည် မိမိတို့အဖို့ သိုမှီးသိမ်းဆည်း၍ ထားရှိခဲ့ကြသည့်ရတနာ)များပင်တည်း။ သို့ဖြစ်ပေရာ (ယခုသော်ကား) အသင်တို့သည် မိမိတို့ သိုမှီးသိမ်းဆည်းခြင်း(၏ပြစ်ဒဏ်)ကို မြည်းစမ်းကြလေကုန်" (ဟု ပြောဆိုကြကုန်အံ့သတည်း)။

إِنَّ عِدَّةَ الشُّهُورِ عِندَ اللَّهِ اثْنَا عَشَرَ شَهْرًا فِي كِتَابِ اللَّهِ يَوْمَ خَلَقَ السَّمَاوَاتِ وَالْأَرْضَ

၃၆။ စေကန်စင်စစ် လများ၏အရေအတွက်သည် အလ္လာဟ်အရှင်မြတ်၏ အထံတော်တွင်အလ္လာဟ်အရှင်မြတ်၏ကျမ်းတော်၌ လာရှိသည့်အတိုင်း မိုးကောင်းကင်များနှင့်ပထဝီမြေကို ထိုအရှင်မြတ် ဖန်ဆင်းတော်မူသည့်နေ့မှစ၍ ဆယ့်နှစ်လမျှသာ ဖြစ်ချေသည်။ ၎င်(ဆယ့်နှစ်လ)အနက်မှ *လေးလသည် ထူးမြတ်သော လများပင်* [၁] ဖြစ်ကြပေသည်။

---

➤➤ မလှူရက် မပေးရက်သော၊ စေးနဲသော သူတယောက်ထံတွင် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ အလှူဒါနပြုရန် မေတ္တာရပ်ခံလျှင် ထိုသူ၏နဖူးသည် ရှုံ့၍သွားလေသည်။ ဆက်လက်မေတ္တာရပ်ခံလျှင် ဘေးစောင်းသွားလေသည်။ ထို့နောက်တဖန် ထပ်မံ၍ မေတ္တာရပ်ခံလျှင် ကျောခိုင်းသွားလေသည်။ ထို့အတွက်ကြောင့်ပင် ထိုနေရာများကို အထူးသဖြင့် တံဆိပ်ခတ်နှိပ်တော်မူခြင်းဖြစ်သည်။

(၁) ဤ ကဏ္ဍ၏ အပိုဒ် (၁ – ၂) တွင် မုရှ်ရစ်က်များနှင့် စက်မက် ပြိုင်ဆိုင် တိုက်ခိုက်ရမည့် အကြောင်းပါရှိ၏။

အပိုဒ် (၃) တွင် မွတ်စ်လင်မ်တို့သည် လောကီသံယောဇဉ်များထက် သာသနာရေးကို အလေးထားရမည့် အကြောင်းပါရှိ၏။

အပိုဒ် (၄) တွင် ကိတာဗီများနှင့် စစ်မက် ပြိုင်ဆိုင်တိုက်ခိုက်ရမည့်အကြောင်း ပါရှိ၏။

အပိုဒ် (၅) တွင် ကိတာဗီများ၏ အယူအဆ အပြုအမူများသည်၊ မုရှ်ရစ်က်များနှင့် တူသည့်အကြောင်း ပါရှိ၏။ ဥပမာ–မုရှ်ရစ်က်များသည် ကောင်းကင်တမန်များကို အလ္လာဟ်အရှင်မြတ်၏သမီးတော်များဖြစ်သည်ဟု ဆိုကြသကဲ့သို့ နဆ္ဆရာနီများက မစီဟ်သည် အလ္လာဟ်အရှင်မြတ်၏ သားတော်ဖြစ်သည်ဟူ၍လည်းကောင်း၊ ယဟူဒီများကအုဇိုင်ရ်သည် အလ္လာဟ်အရှင်မြတ်၏သားတော်ဖြစ်သည် ဟူ၍လည်းကောင်းဆိုခဲ့ကြသည်။ 'တမန်တော် မစီဟ်သည် အလ္လာဟ်အရှင်မြတ်၏ သားတော်ဖြစ်သည်'ဟူသော အယူဝါဒသည် မုရှ်ရစ်က်တို့၏ အယူအဆ အပြုအမူကို သံယောင်လိုက်ခြင်း၊ အတုခိုးခြင်းမှ ဖြစ်ပေါ်လာခြင်းဖြစ်သည်။ ➤➤

مِنْهَآ اَرْبَعَةٌ حُرُمٌ ۭ ذٰلِكَ الدِّيْنُ الْقَيِّمُ ڏ فَلَا تَظْلِمُوْا فِيْهِنَّ اَنْفُسَكُمْ وَقَاتِلُوا الْمُشْرِكِيْنَ كَاۗفَّةً كَمَا يُقَاتِلُوْنَكُمْ كَاۗفَّةً ۭ وَاعْلَمُوْٓا اَنَّ اللّٰهَ مَعَ الْمُتَّقِيْنَ ㉟

ဤသည် ဖြောင့်မတ် မှန်ကန်သော 'ဒီန်' သာသနာတော်က (ညွှန်ကြားပြသသောလမ်းစဉ်)ပင် ဖြစ်လေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် ၎င်း(လများ)နှင့်စပ်လျဉ်း၍ မိမိတို့ကိုယ်ကို နှိပ်စက်ကလူ မပြုကြကုန်လင့်။ ၎င်းပြင် အသင်တို့သည် 'မုရှ်ရစ်က်' အားလုံးတို့ကို ၎င်းတို့သည် အသင်တို့ အားလုံးတို့အား တိုက်ခိုက်ကြသကဲ့သို့ပင် တိုက်ခိုက်ကြလေကုန်။ ၁ ထို့ပြင် ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် သူတော်စင်အပေါင်းတို့နှင့်အတူ ရှိတော်မူကြောင်း အသင်တို့သည် ကောင်းစွာ မှတ်ယူကြလေကုန်။

---

➤➤ မုရှ်ရစ်က်များသည် ရုပ်လုံးများကို ကိုးကွယ်ရာအရှင်သခင်၏ အဆင့်အတန်း၌ ထားရှိခဲ့ကြသည်။ နဆွါရာနီများသည် တမန်တော် မစီဟ်နှင့် ရှုဟုလ်ကုဒ္ဒတ်စ်ကို အလ္လာဟ်အရှင်မြတ်ဟူ၍ မှတ်ယူခဲ့ကြသည်။

ယဟူဒီနှင့် နဆွါရာနီများသည် မိမိတို့ထံ၌ ကောင်းကင်ကျမ်းဂန်များရှိသည်ဟု ပြောဆိုကြပါလျက် ထိုကျမ်းဂန်လာတရားဥပဒေများကို လိုက်နာကျင့်သုံးကြရမည့်အစား မိမိတို့၏ ဓမ္မဆရာများနှင့် ဘုန်းကြီးရဟန်းများ၏ စကားများကိုပင် ကျမ်းဂန်လာတရားဒေသနာတော်များဟူ၍ မှတ်ယူလိုက်နာ ကျင့်သုံးခဲ့ကြလေသည်။ (၀၁) ဓမ္မဆရာများနှင့် ဘုန်းကြီးရဟန်းများက တံစိုးလက်ဆောင်များယူ၍ မိမိတို့စိတ်လိုရာအတိုင်း ဟလာဟ်၊ ဟရာမ်ဟူ၍ အမှားမှား အယွင်းယွင်း သတ်မှတ်ပြဋ္ဌာန်းကြသည်များကိုပင် ကောင်းကင်ကျမ်းဂန်လာ ဒေသနာတော်များဖြစ်သည်ဟူ၍ ယင်းယဟူဒီ၊ နဆွါရာနီများသည် လက်ခံနာယူခဲ့ကြသည်။ ယဟူဒီ၊ နဆွါရာနီများ၏အပြုအမူသည် မုရှ်ရစ်က်တို့၏ အပြုအမူနှင့် ထပ်တူထပ်မျှပင် ဖြစ်ခဲ့ပေသည်။ အဘယ်ကြောင့်ဆိုသော် မုရှ်ရစ်က်တို့၏ အကြီးအကဲများသည်လည်း မိမိတို့၏ စိတ်လိုရာအတိုင်း ဟလာလ်၊ ဟရာမ်ဟူ၍ဆိုကာ ဤသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြစ်သည်ဟု မဟုတ်မမှန် ပြောဆိုလေ့ရှိခဲ့ကြပေသည်။ ဤသည့် အကြောင်းကို ဤကဏ္ဍ အပိုဒ်(၆)တွင် အကျယ်အဝင့် မိန့်ဆိုထားတော်မူသည်။

ဤအာယတ်တော်တွင်လည်း တူညီချက်တရပ်ကို မိန့်ဆိုထားတော်မူသည်။ အရဗ်လူမျိုးတို့၌ ရှေ့အတိတ်ခေတ်မှပင် လုပ်ရိုးလုပ်စဉ်တရပ် ရှိခဲ့ပေသည်။ ၎င်းတို့သည် (၁၂)လအနက် (၄)လကို 'အရှ်ဟုရ်ဟုရွန်မ်' ထွက်မြတ်သော လများဟူ၍ မှတ်ယူခဲ့ကြပေသည်။ ထိုလများမှာ ဇွလ်ကအ်ဒဟ်၊ ဇစ်လ်ဟစ်ဂျ်ဂျဟ်၊ မုဟ်ရ်ရမ်နှင့် ရဂျဗ်လများဖြစ်သည်။ ၎င်းတို့သည် ထိုလများတွင် သတ်ဖြတ်ခြင်း၊ သွေးထွက်သံယိုမှုပြုခြင်းများကို အထူးရှောင်ကြဉ်ခဲ့ကြပေသည်။ ဤလများတွင် ၎င်းတို့သည်ဟဂျ်၊ အွန်မ်ရဟ်နှင့် အရောင်းအဝယ် ကိစ္စများအတွက် အေးချမ်းစွာ ခရီးသွားလာလေ့ရှိခဲ့ကြပေသည်။ ဤလများတွင် မိမိတို့၏ဖခင်အား သတ်ဖြတ်သူကိုပင် လက်စားချေလေ့ မရှိခဲ့ကြပေ။

၁ ဤအာယတ်တော်ကိုထောက်ရှုခြင်းအားဖြင့် အချိန်အခါမရွေး ရန်သူကာဖိရ်များနှင့်စစ်မက်ပြိုင်ဆိုင် ➤➤

إِنَّمَا النَّسِيٓءُ زِيَادَةٌ فِى
الْكُفْرِ يُضَلُّ بِهِ الَّذِينَ
كَفَرُوا يُحِلُّونَهُۥ عَامًا
وَيُحَرِّمُونَهُۥ عَامًا لِّيُوَاطِـُٔوا
عِدَّةَ مَا حَرَّمَ اللَّهُ فَيُحِلُّوا
مَا حَرَّمَ اللَّهُ ۚ زُيِّنَ لَهُمْ سُوٓءُ
أَعْمَٰلِهِمْ ۗ وَاللَّهُ لَا يَهْدِى
الْقَوْمَ الْكَٰفِرِينَ ﴿٣٧﴾

**၃၇။** လများကိုရွှေ့ဆိုင်းခြင်းသည် 'ကုဖ်ရ်' သွေဖည်ငြင်းပယ်မှု၌ တိုးတက်ခြင်းသာဖြစ်၏။ ယင်း(ကဲ့သို့)ရွှေ့ဆိုင်းထားခြင်းအားဖြင့် 'ကာဖိရ်' မယုံကြည် သွေဖည်ငြင်းပယ်သောသူတို့သည် လမ်းမှားသို့ ရောက်စေခြင်းကို ခံကြရလေသည်။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်က 'ဟရာမ်' ဟူ၍ တားမြစ်တော်မူခဲ့သော(လများ၏)အရေအတွက်နှင့် ကိုက်ညီစေခြင်းငှာ ယင်းရွှေ့ဆိုင်းထားသောလကို တနှစ် 'ဟလာလ်' ပြုလုပ်၍ နောက်တနှစ်တွင်မူ 'ဟရာမ်' ဟူ၍ ပြုလုပ်ကြလေသည်။ သို့အားဖြင့် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်က 'ဟရာမ်' ဟူ၍ တားမြစ်တော်မူခဲ့သည့်(လ)ကို 'ဟလာလ်' ပြုကြကုန်သည်။ ၎င်းတို့၏မကောင်းမှုများသည် ၎င်းတို့(၏အမြင်)၌လှပတင့်တယ်စွာ ရှိနေကြချေပြီ၊ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် 'ကာဖိရ်' မယုံကြည် သွေဖည် ငြင်းပယ်သောသူတို့အား တရားလမ်းမှန်ကိုပြတော်မူသည်မဟုတ်ပေ။

يَٰٓأَيُّهَا الَّذِينَ ءَامَنُوا مَا لَكُمْ
إِذَا قِيلَ لَكُمُ انفِرُوا فِى
سَبِيلِ اللَّهِ اثَّاقَلْتُمْ إِلَى
الْأَرْضِ ۚ أَرَضِيتُم بِالْحَيَوٰةِ

**၃၈။** အို-မုအ်မင်န် သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် မိမိတို့အား 'အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ (စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ရန်) ထွက်ကြလေကုန်'ဟုပြောဆိုသောအခါ အသင်တို့သည် မည်သည့်အတွက်ကြောင့် မြေကြီးဘက်သို့လေးလံစွာ ထိုင်နေကြကုန်သတည်း:(ဝါ) (လေးလံသွားကြသနည်း:)။

➤➤ တိုက်ခိုက်ပိုင်ခွင့် ရှိကြောင်း သိရပေသည်။ (ရှေ့တွင် "တဗူးက်" စစ်ပွဲအကြောင်း ပါရှိသည်။ ထိုစစ်ပွဲသည် "ရဂျဗ်" လတွင်ပင် ဖြစ်ပွားခဲ့သည်)။ အချင်းချင်း နှိပ်စက်ကလူပြုမှုခြင်းသည် အမြဲပင် အပြစ်ဖြစ်သည်။ ဤမြတ်နိုးအပ်သော လထူးများတွင်မူကား သာ၍ပင် အပြစ်ကြီးမားပေသည်။ ဤသည် အများ ပညာရှင်တို့၏ ယူဆချက်ပင် ဖြစ်သည်။ သို့ရာတွင် အကယ်၍ ကာဖိရ်များသည် ဤလများကို မြတ်နိုးကြလျှင် မွတ်စ်လင်မ်တို့အဖို့ ဤလများတွင် စတင်၍ စစ်မတိုက်ခြင်းသည် ပိုမိုသင့်မြတ်ပေသည်။
( ရှားဟ်အဗ်ဒုလ္လလ်ကာဒရ်။ )

الدُّنْيَا مِنَ الْاٰخِرَةِ فَمَا مَتَاعُ الْحَيٰوةِ الدُّنْيَا فِى الْاٰخِرَةِ اِلَّا قَلِيْلٌ ﴿٣٨﴾

အသင်တို့သည် (ဤ)မျက်မှောက် လောကီဘဝ၏ (စည်းစိမ်ချမ်းသာများ)ကို နောင်တမလွန်ဘဝ၏ (စည်းစိမ်ချမ်းသာများ)ထက် နှစ်သက်ကြလေပြီလော။ သို့ဖြစ်ပါမူ (ဤ)ပစ္စက္ခမျက်မှောက်ဘဝ၏စည်းစိမ်ချမ်းသာသည် နောင်တမလွန်ဘဝ၏ (စည်းစိမ်ချမ်းသာ)နှင့် နှိုင်းလျှင် အနည်းငယ်မျှသာ ဖြစ်ကြောင်း၊ (အသင်တို့သည် ကောင်းစွာမှတ်ယူကြလေကုန်)။ [၁]

---

(၁) **က။ 'တဗူးက်စစ်ပွဲ'**

ဤအာယတ်တော်များတွင် 'တဗူးက်' စစ်ပွဲကို ရည်ညွှန်းထားတော်မူသည်။ ဟစ်ဂျ်ရီသက္ကရာဇ် (၉)ခုနှစ်၊ ရဂျဗ်လ၊ ခရစ်သက္ကရာဇ် (၆၃၀)ခုနှစ်တွင် 'တဗူးက်' စစ်ပွဲဖြစ်ပွားခဲ့၏။ 'တဗူးက်' သည် မဒီနာမြို့၏ မြောက်ဘက် 'ရှာမ်' ခေါ် ဆီရီယပြည်၏ နယ်စပ်ဒေသတွင် မဒီနာမြို့မှ (Kilometre) ကီလိုမီတာ (၆၁၀)အကွာ၌ တည်ရှိသည်။ ထိုအချိန်တွင် ဆီရီယပြည်သည် ရိုမင်အင်ပါယာ၏ လက်အောက်တွင် ပြည်နယ်တခု ဖြစ်ရှိနေခဲ့၏။

တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် 'ဟိုနိုင်န်' စစ်ပွဲအောင်နိုင်ပြီး မဒီနာမြို့သို့ ပြန်လည်ရောက်ရှိလာတော်မူသည့်အခါ 'မစီဟီ' စစ်တပ်များသည် 'တဗူးက်' တွင် စုရုံးနေကြကြောင်း၊ မကြာမီအတွင်း မဒီနာမြို့ကို တိုက်ခိုက်ကြမည်ဖြစ်ကြောင်း သတင်းရရှိတော်မူလေသည်။ ထိုအခါ တမန်တော်မြတ် သည် မိမိကိုယ်တိုင် ထိုးစစ်ဆင်နွှဲလိုတော်မူသည့်အတွက် မွတ်စ်လင်မ်စစ်သည် (၃၀၀၀၀)သုံးသောင်းကို ခေါ်ဆောင်၍ ချီတက်သွားတော်မူခဲ့လေသည်။

ယခုတကြိမ် စစ်ပွဲသည် ယခင်စစ်ပွဲများနှင့် မတူချေ။ အဘယ်ကြောင့်ဆိုသော် ပြိုင်ဆိုင်တိုက်ခိုက်ရမည့် ရန်သူစစ်သားများသည် ရိုးရိုးသာမန် အရပ်သားအုပ်စုများမဟုတ်၊ စနစ်တကျ ဖွဲ့စည်းထားသည့် စစ်မှုရေးရာ ကျွမ်းကျင်သည့် ဘုရင့်စစ်သည်တော်များ ဖြစ်ကြသည်။ ရာသီဥတုမှာလည်း အလွန်တရာ ပူပြင်းလှသည်။ အသီးအနှံများ ရင့်မှည့်မည့်ဆဲဆဲအချိန်၊ ကောက်ပဲသီးနှံများ ရိတ်သိမ်းအံ့ဆဲဆဲ အချိန်လည်းဖြစ်နေသည်။ ချီတက်သွားရမည့် ခရီးမှာလည်း အလွန်တရာမျှ ကမ်းလှမ်းဝေးကွာလေသည်။ ထို့အတွက်ကြောင့် အချို့မွတ်စ်လင်မ်များသည် လူ့သဘာဝအလျှောက် ယင်းစစ်ပွဲကို ချီတက်ဆင်နွှဲရန် လေးဖင့်ခဲ့ကြသည်။ ယင်းသို့သော အချိန်တွင် မုနာဖစ်က်များသည် မွတ်စ်လင်မ်များအား အဘက်ဘက်မှ စိတ်ဓာတ်ပျက်ပြားစေခဲ့ကြလေသည်။ နည်းပရိယာယ် အမျိုးမျိုးသုံးခဲ့ကြလေသည်။

မွတ်စ်လင်မ် စစ်သည်တော်များ အင်အားကြီးမားစွာဖြင့် ယင်းကဲ့သို့ ချီတက်လာနေကြသည့် သတင်းကို မစီဟီစစ်သည်များ သိရှိသောအခါ စိတ်ဓာတ်ကျဆင်းကာ ရင်မဆိုင်ဝံ့ခဲ့ကြပေ။ မွတ်စ်လင်မ်စစ်သည်များသည် စစ်မြေပြင်တွင် အချိန်အတန်ကြာသည်အထိ စောင့်ဆိုင်းနေခဲ့ကြလေသည်။ သို့ရာတွင် နောက်ဆုံး၌ ရန်သူတဦးတယောက်မျှ မထွက်ပေါ်လာခဲ့သည့်အတွက် စစ်ပွဲမဖြစ်ပွားပဲ အေးချမ်းစွာ မဒီနာမြို့သို့ ပြန်လာခဲ့ကြပေသည်။

မာဂျိဒီ။ အ-၂။ စ-၄၀၄။ အအ-၇၂။

إِلَّا تَنفِرُوا يُعَذِّبْكُمْ عَذَابًا أَلِيمًا وَيَسْتَبْدِلْ قَوْمًا غَيْرَكُمْ وَلَا تَضُرُّوهُ شَيْئًا ۗ وَاللَّهُ عَلَىٰ كُلِّ شَيْءٍ قَدِيرٌ ﴿٣٩﴾

၃၉။ အကယ်၍ အသင်တို့သည် (အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန်) မထွက်ကြပါလျှင်၊ ထိုအရှင်မြတ်သည် အသင်တို့အား နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်ကို ပေးတော်မူအံ့။ ထိုမှတပါးလည်း ထိုအရှင်မြတ်သည် အသင်တို့အစား အခြားလူမျိုးတမျိုးကို လဲလှယ်(ဖန်ဆင်း)တော်မူအံ့၊[၁] ထို့ပြင် အသင်တို့သည် ထိုအရှင်မြတ်အား အနည်းငယ် စိုးစဉ်းမျှလည်း အကျိုးယုတ် စေနိုင်ကြမည် မဟုတ်ပေ။ စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ပြုစွမ်းနိုင်တော်မူသော အရှင်မြတ် ဖြစ်တော်မူပေသတည်း။

إِلَّا تَنصُرُوهُ فَقَدْ نَصَرَهُ اللَّهُ إِذْ أَخْرَجَهُ الَّذِينَ كَفَرُوا ثَانِيَ اثْنَيْنِ إِذْ هُمَا فِي الْغَارِ إِذْ يَقُولُ لِصَاحِبِهِ لَا تَحْزَنْ إِنَّ اللَّهَ مَعَنَا ۖ فَأَنزَلَ اللَّهُ سَكِينَتَهُ عَلَيْهِ

၄၀။ အကယ်၍အသင်တို့သည် ထို(နဗီတမန်တော်)အားမကူညီမယိုင်းပင်းကြပါလျှင် မုချဧကန်အလ္လာဟ်အရှင်မြတ်သည် ထို(နဗီတမန်တော်)ကို "ကာဖိရ်" မယုံမကြည်သွေဖည်ငြင်းပယ်သောသူများကငင်းအား (မက္ကာမြို့မှ) နှင်ထုတ်ကြစဉ်ငင်း(နဗီတမန်တော်)သည် နှစ်ယောက်အနက် ဒုတိယဖြစ်ခဲ့စဉ် ၎င်းတို့နှစ်ဦးဂူထဲ၌ရှိနေကြစဉ် ထိုတမန်တော်က မိမိအဖော်အား "အသင်မပူပါလေနှင့်၊ မုချဧကန် *အလ္လာဟ်အရှင်မြတ်သည်ငါတို့နှင့်အတူရှိတော်မူသည်*"[၂] ဟု ပြောဆို၍ရှိနေစဉ် ကူညီမိုင်းမတော်မူခဲ့လေသည်။

---

(၁) (၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့အစား အခြားလူမျိုးတမျိုးကို လဲလှယ်ဖန်ဆင်းတော်မူအံ့) (ဝါ) ထိုအရှင်မြတ်သည် မိမိ၏သာသနာတော်ကို တည်ထောင်တော်မူရန်နှင့် မိမိ၏တမန်တော်အား ကူညီထောက်ပံ့တော်မူရန်အတွက် (အသင်တို့အစား) အခြားလူမျိုးတမျိုးကို လဲလှယ်ဖန်ဆင်းတော်မူမည်။ ဤအာယတ်တော်နှင့် အလားတူပင် ကုရ်အာန်ကျမ်းမြတ်(၄၇း၃၈)တွင် "အကယ်၍ အသင်တို့သည် ကျောခိုင်းကြလျှင် ထိုအရှင်မြတ်သည် အသင်တို့အစား အခြားလူမျိုးတမျိုးကို လဲလှယ်ဖန်ဆင်းတော်မူမည်ဖြစ်သည်။ ထိုလူမျိုးတို့သည် အသင်တို့ကဲ့သို့ ဖြစ်ကြလိမ့်မည် မဟုတ်ပေ။" ဟု မိန့်ဆိုထားတော်မူသည်။

အစ်ဗ်နကဆီရ်။ အ-၂။ စ-၃၅၈။ ➤➤

➤➤ ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် တိုင်းပြည်အဝှန်း စစ်ချီတက်ရန် တပ်လှန့်ကြော်ငြာလိုက်သည့်အခါ၊ တိုင်းသူပြည်သား အားလုံးတို့အပေါ်၌ စစ်ချီထွက်ရန်မှာ မုချတာဝန်ဖြစ်ကြောင်း သိရှိရပေမည်။ ဂျဆွ်ဆွာဆွ်။

② အကယ်၍သာ မွတ်စ်လင်မ်များသည် တမန်တော်မြတ်အား မကူညီခဲ့ကြလျှင်လည်း အရေးမကြီးပေ။ တမန်တော်မြတ်၏ အောင်မြင်မှုသည် မွတ်စ်လင်မ်များ၏ အားပေးကူညီမှုအပေါ်၌လည်း မတည်ရှိပေ။ အလ္လာဟ်အရှင်မြတ်၏ အားပေးကူညီမှုသည်သာလျှင် အဓိကဖြစ်ချေသည်။

**တမန်တော်မြတ် ဟစ်ဂျ်ရတ် ပြုရာတွင် အလ္လာဟ်အရှင်မြတ် ကူညီတော်မူခဲ့ပုံ**

တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အပေါ်သို့ ဘေးအန္တရာယ်ကြီးမားလှသည့်အချိန်တချိန် ဆိုက်ရောက်ခဲ့ဖူး၏။ တမန်တော်မြတ်သည် လိုဏ်ဂူတခုတွင် ပုန်းအောင်း၍ နေခဲ့ရ၏။ ထိုအချိန်တွင် တမန်တော်မြတ်နှင့်အတူ မိတ်ဆွေတဦးမှအပ အခြား အခြွေအရံတဦးတယောက်မျှ မရှိခဲ့ပေ။ အချို့မွတ်စ်လင်မ်များသည်လည်း မက္ကာမြို့သား ကာဖိရ်များ၏ ညှဉ်းပန်းမှုများကြောင့် "ဟစ်ဂျ်ရတ်" အရပ်တပါးသို့ ရွှေ့ပြောင်းခဲ့ကြပြီးဖြစ်၏။ နောက်ဆုံးတွင် တမန်တော်မြတ်ကိုယ်တော်တိုင်အား ဟစ်ဂျ်ရတ်ပြုလုပ်ရန် အမိန့်တော် ကျရောက်လာခဲ့လေသည်။

မက္ကာမြို့သား ကာဖိရ်များသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား လုပ်ကြံသတ်ဖြတ်ရန် ဆွေးနွေးတိုင်ပင်ခဲ့ကြ၏။ လုပ်ကြံနိုင်ရန်အတွက် အကြံဉာဏ်အမျိုးမျိုးထုတ်ခဲ့ကြ၏။ နောက်ဆုံးအများသဘောတူ အတည်ပြုခဲ့ကြသည့် အကြံဉာဏ်နှင့် အဆုံးအဖြတ်မှာ ...

ကာဖိရ်၊ မုရှ်ရစ်က် အုပ်စု အသီးသီးမှ လူရွယ်တဦးစီ ရွေးချယ်ရန်၊

ထိုလူရွယ်အားလုံးတို့သည် စုရုံးကာ တချိန်တည်း တမန်တော်မြတ်အား လုပ်ကြံရန်။

ယင်းသို့ အုပ်စုအသီးသီးမှ လူရွယ်များပါဝင်ပြီး တမန်တော်မြတ်အား လုပ်ကြံသတ်ဖြတ်လိုက်ခြင်းအားဖြင့်၊ အသက်ဖိုးလျော်ကြေးပေးရသော် လျော်ကြေးသည် အုပ်စုအသီးသီးအပေါ်သို့ အချိုးကျ သက်ရောက်သွားပေမည်။

ဤသို့ပြုလုပ်ခြင်းအားဖြင့် တမန်တော်မြတ်၏ မျိုးနွယ်အုပ်စုဖြစ်သည့် ဟာရှင်မ်မျိုးနွယ်ဝင်များသည် အရဗ်တမျိုးသားလုံးနှင့် ယှဉ်ပြိုင်တိုက်ခိုက်နိုင်မည်လည်း မဟုတ်ပေ။

ယင်းသို့ ဆွေးနွေးဆုံးဖြတ်ကြပြီးနောက် တမန်တော်မြတ်အား ကာယက်မြောက် လုပ်ကြံရန် ကြံရွယ်ထားသော ညဉ့်တွင် တမန်တော်မြတ်သည် သာဝကကြီးအလီ(ရဒွေ့ယလ္လာဟို တအာလာအန်ဟု) သခင်အား မိမိ၏အိပ်ရာတွင် အိပ်ရန် ပြောကြားတော်မူ၏။ မိမိထံ လူအများယုံကြည်ကာ အပ်ထားကြသော ပစ္စည်းများကို သက်ဆိုင်ရာပစ္စည်းရှင်တို့အား သွားရောက်အပ်နှင်းရန် မှာကြားတော်မူ၏။ တမန်တော်မြတ်က သာဝကကြီး အလီသခင်အား "ရန်သူများသည် အသင့်အား အနည်းငယ် စိုးစဉ်းမျှပင် ဒုက္ခပေးနိုင်ကြမည်မဟုတ်" ကြောင်း နှစ်သိမ့်စကား ပြောကြားတော်မူ၏။ ထို့နောက် တမန်တော်မြတ်သည် ရန်သူများအကြားမှပင် "ရှာဟတိလ်ဝုဂျူဟ်" "မျက်နှာများ မကောင်းဖြစ်ပါစေ" ဟု ဆိုကာ ထွက်လာတော်မူခဲ့၏။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ယင်းသို့ ရန်သူများစပ်ကြားမှ လွတ်မြောက်လာပြီး သာဝကကြီး အဗူဗတ်ကရ်(ရဒွေ့ယလ္လာဟို တအာလာအန်ဟု)သခင်အား မိမိနှင့်အတူ ခေါ်ဆောင်၍ မက္ကာမြို့နှင့် မိုင်အနည်းငယ်အကွာတွင် တည်ရှိသော "ဆောင်ရ်" အမည်ရှိသော လိုဏ်ဂူသို့ ပုံးအောင်းရန် ကြွတော်မူ၏။ ဤလိုဏ်ဂူသည် တောင်ပေါ်တွင် အခေါင်းပါသော ကျောက်ဆောင်တခုပင်ဖြစ်၏။ ➤➤

➤➤ ထိုလိုဏ်ဂူတွင် ဝင်ရန်အပေါက်မှာလည်း တပေါက်သာရှိသည်။ ထိုဝင်ပေါက်မှာလည်း အလွန်မျှပင် ကျဉ်းမြောင်း၏။ ထိုအပေါက်မှ လူတယောက်သည် မတ်တတ်ရပ်၍သော်လည်းကောင်း၊ ထိုင်၍သော်လည်းကောင်း၊ မဝင်နိုင်ပေ။ လဲလျောင်း၍သာ ဝင်နိုင်ပေသည်။

သာဝကကြီး အဗူဗတ်က်ရ်သခင်သည် ထိုလိုဏ်ဂူအတွင်းသို့ ပထမဝင်၍ သန့်ရှင်း၏။ လိုဏ်ဂူတွင် ရှိသောတွင်းများမှ ပိုးမွှားတိရစ္ဆာန်များက ဒုက္ခမပေးနိုင်ရန်အတွက် အဝတ်များဖြင့် ပိတ်ဆို့၏။ နောက်ဆုံးတွင် တွင်းတခုပိတ်ရန် ကျန်ရှိနေရာ ထိုတွင်းကို မိမိခြေထောက်ဖြင့် ပိတ်ထားလိုက်၏။ လိုဏ်ဂူအတွင်း သန့်ရှင်း၍ စနစ်တကျ ပြုလုပ်ပြီးသောအခါ၊ သာဝကကြီး အဗူဗတ်က်ရ်သည် တမန်တော်မြတ်အား အတွင်းသို့ကြွတော်မူရန် မေတ္တာရပ်ခံလေသည်။ တမန်တော်မြတ်သည် သာဝကကြီး အဗူဗတ်က်ရ်သခင်၏ပေါင်ပေါ်တွင် ဦးခေါင်းချကာ အိပ်စက်လျက် ရှိတော်မူစဉ် မြွေတကောင်သည် သာဝကကြီး အဗူဗတ်က်ရ်၏ ခြေထောက်ကို ကိုက်ခဲလိုက်လေသည်။ ယင်းသို့ မြွေအကိုက်ခံလိုက်ရသော်လည်း သာဝကကြီး အဗူဗတ်က်ရ်သခင်သည် တမန်တော်မြတ် အိပ်စက်နေတော်မူရာမှ နိုးသွားတော်မူမည် စိုးရိမ်သဖြင့်၊ မိမိ၏ ခြေထောက်ကို မလှုပ်ရှားခဲ့ပေ။ အတန်ကြာသော် တမန်တော်မြတ်သည် အိပ်စက်ရာမှနိုးလာ၍ အကျိုးအကြောင်းသိတော်မူသောအခါ၊ မိမိတံတွေးဖြင့် မြွေကိုက်ခဲရာ နေရာကို၊ သုတ်လိမ်းပေးတော်မူလိုက်ရာ တခဏချင်းအတွင်းမှာပင် သက်သာခွင့်ရရှိသွားလေသည်။

ယင်းသို့ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) မက္ကာမြို့မှ ထွက်သွားတော်မူသည့်အခါ၊ မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်များသည် "ကာအစ်ဖ်" Tracker ခြေရာခံ၍လိုက်လံသူ တဦးကိုခေါ်ဆောင်၍ ခြေရာခံကာ တမန်တော်မြတ်အား လိုက်လံရှာဖွေရန် ထွက်လာခဲ့ကြ၏။ "ကာအစ်ဖ်" သည် ခြေရာကြည့်ပြီး လိုက်လာခဲ့ရာ "ဆောင်ရ်" လိုဏ်ဂူအထိ ခြေရာရှိနေသည်ကို ပြသခဲ့၏။ သို့သော် အလ္လာဟ်အရှင်မြတ်၏ ဘုန်းတန်ခိုးတော်ဖြင့် ထိုခဏမှာပင် ပင့်ကူကောင်တကောင်ကို လိုဏ်ဂူအပေါက်ဝ၌ အိမ်လုပ်စေတော်မူလိုက်၏။ တောခိုတကောင်ကိုလည်း လိုဏ်ဂူအပေါက်ဝမှာပင် ဥထားစေတော်မူလိုက်၏။ တမန်တော်မြတ်အား လိုက်လံရှာဖွေနေကြသော ကာဖိရ်ရန်သူများသည် လိုဏ်ဂူအပေါက်ဝတွင် ပင့်ကူအိမ်နှင့် ခိုဥကို တွေ့မြင်ကြသောအခါ၊ မိမိတို့ ခြေရာပြသည့် ကာအစ်ဖ်အား မုသားလိမ်လည်ပြသည်ဟူ၍လည်းကောင်း၊ "ဤပင့်ကူအိမ်သည် (တမန်တော်မြတ်) မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) မဖွားမြင်မီ အလျင်ကပင် ရှိသည်ဟု ထင်မြင်ရသည်" ဟူ၍ လည်းကောင်း၊ "အကယ်၍ ဤလိုဏ်ဂူအတွင်းသို့ တဦးတယောက်ဝင်သည်ရှိသော်၊ ဤပင့်ကူအိမ်နှင့် ဤဥများသည် အသို့လျှင် အခြေမပျက် ဤသို့ရှိနိုင်မည်နည်း"ဟူ၍လည်းကောင်း၊ ပြောဆိုကြလေသည်။

ထိုအချိန်တွင် သာဝကကြီး အဗူဗတ်က်ရ်သည် လိုဏ်ဂူအတွင်းမှ ရန်သူများ၏ ခြေထောက်များကို တွေ့မြင်နေရ၏။ သာဝကကြီးသည် တမန်တော်မြတ်အား မိမိ၏အသက်ထက် ချစ်မြတ်နိုး၏။ တမန်တော်မြတ် အတွက် မိမိ၏ဥစ္စာပစ္စည်းအားလုံးကိုလည်း စွန့်လှူပြီးဖြစ်၏။ ထို့အတွက်ကြောင့် တမန်တော်မြတ်အား ရန်သူများ တွေ့မြင်သွားကြမည်ကို အလွန်စိုးရိမ်ပူပန်ကာ တမန်တော်မြတ်အား "အိုး-အလ္လာဟ်အရှင်မြတ်၏ တမန်တော်၊ အကယ်၍များ ရန်သူများသည် အနည်းငယ် ငုံ့လျှိုး၍ ကြည့်လိုက်လျှင် ကျွန်တော်များကို တွေ့မြင်သွားကြ ပါလိမ့်မည်" ဟု ပြောကြားလေသည်။

ထိုအခါ တမန်တော်မြတ်က "အိုး-အဗူဗတ်က်ရ်၊ အကြင်သူနှစ်ဦးနှင့် ပတ်သက်၍ အသင်၏ ထင်မြင်ချက်ကား အသို့ပါနည်း။ ထိုသူနှစ်ဦးနှင့်အတူ တတိယမှာ အလ္လာဟ်အရှင်မြတ် ဖြစ်တော်မူသည်" ဟု ပြန်လည်ဖြေကြားတော်မူ၏။ ဆိုလိုသည်ကား "အလ္လာဟ်အရှင်မြတ်သည် ငါတို့နှင့် အတူတကွ ရှိတော်မူပေရာ အဘယ်တစုံတရာကိုမျှ စိုးရိမ်ကြောက်ရွံ့ရန်မလို" ဟူ၍ ဆိုလိုခြင်းပင်။ ➤➤

وَأَيَّدَهُۥ بِجُنُودٍ لَّمْ تَرَوْهَا وَجَعَلَ كَلِمَةَ ٱلَّذِينَ كَفَرُوا۟ ٱلسُّفْلَىٰ ۗ وَكَلِمَةُ ٱللَّهِ هِىَ ٱلْعُلْيَا ۗ وَٱللَّهُ عَزِيزٌ حَكِيمٌ ﴿٤٠﴾

ထိုအချိန်အခါဝယ် အလ္လာဟ်အရှင်မြတ်သည် မိမိထံတော်မှ(စိတ်)တည်ငြိမ်မှုကို ၎င်း(နဗီတမန်တော်)၏အပေါ်၌ချပေးသနားတော်မူခဲ့၏။ ထိုမှတပါးလည်း ၎င်း(နဗီတမန်တော်)အား အသင်တို့မမြင်ခဲ့ကြရသော စစ်သည်ဗိုလ်ခြေများဖြင့်ကူညီအားပေးထောက်မတော်မူခဲ့လေ၏။ ထို့ပြင် ထိုအရှင်မြတ်သည် "ကာဖိရ်" မယုံမကြည် သွေဖည်ငြင်းပယ်သော သူတို့၏စကားကို နိမ့်ကျစေတော်မူခဲ့လေ၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်၏ စကားတော်မှာမူကား အမြင့်ဆုံး အထက်ဆုံးဖြစ်ခဲ့ချေသည်။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အလွန်တန်ခိုးကြီးမားတော်မူသော အရှင်၊ နက်နဲသိမ်မွေ့သော ဉာဏ်အမြော်အမြင်နှင့် ပြည့်စုံတော်မူသောအရှင်မြတ်ပင်ဖြစ်တော်မူပေသည်။

➤➤ ထိုအချိန်တွင် အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်၏ စိတ်နှလုံးသားအပေါ်သို့ မိမိ၏ထံတော်မှ စိတ်တည်ငြိမ်မှုကို ချပေးသနားတော်မူလိုက်လေသည်။ တမန်တော်မြတ်အား အကြောင်းပြု၍ သာဝကကြီး အဗူဗတ်ကရ်သခင်၏ စိတ်နှလုံးသားအပေါ်သို့လည်း စိတ်တည်ငြိမ်မှုကို ချပေးသနားတော်မူလိုက်လေသည်။ ထို့ပြင်တဝ လူသားတို့မမြင်နိုင်သော ကောင်းကင်တမန်စစ်သည်တော်များဖြင့်လည်း တမန်တော်မြတ်အား ကူညီထောက်မတော်မူလိုက်လေသည်။ ဤဖြစ်ရပ်များတွင် ပင့်ကူအိမ်၊ ခိုဥစသည်များသည် မျက်ကွယ်မှ အလ္လာဟ်အရှင်မြတ်၏ အကူအညီ အထောက်အမ၏ အကျိုးတရပ်ပင်ဖြစ်သည်။ ပင့်ကူအိမ်သည် အိုးအိမ်များတွင် မခိုင်လုံဆုံးသော အချိန့် နံ့ချာဆုံးသောအိမ်ပင် ဖြစ်ပေသည်။ သို့တစေလည်း အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်အဟုန်ဖြင့် ထိုမခိုင်လုံဆုံးသော ချည့်နဲ့ နံ့ချာဆုံးသော ပင့်ကူအိမ်သည်ပင်လျှင် ကြီးကျယ် ခန့်ညားသော ရဲတိုက်ကြီးများထက် သာလွန်သော ရဲတိုက်ကြီး ဖြစ်သွားခဲ့လေသည်။ ဤသို့နည်းအားဖြင့် အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်၊ မုရှ်ရစ်ကတို့၏ စကားများကို နိမ့်ကျစေတော်မူခဲ့၏။ ၎င်းတို့၏ အကြံအစည်များကိုလည်း အချည်းနှီး ဖြစ်စေတော်မူခဲ့၏။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အဆိုပါလိုဏ်ဂူတွင် သုံးရက်တိုင်တိုင် ရပ်နားတော်မူပြီးနောက် မဒီနာမြို့သို့ ကောင်းမွန်စွာ ရောက်ရှိသွားတော်မူခဲ့လေသည်။ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်၏အလိုတော်သည်သာလျှင် အမြဲတစေ အောင်မြင်သည်သာ ဖြစ်ပေသည်။ ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို လွှမ်းမိုးတော်မူသောအရှင် ဖြစ်တော်မူပေသည်။ ထိုအရှင်မြတ်သည် "ဟစ်က္ကမတ်" တည်းဟူသော ဉာဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသောအရှင်လည်း ဖြစ်တော်မူ၏။ ထိုအရှင်မြတ် ပြုတော်မူသမျှသော အမှုကိစ္စဟူဟူသမျှတို့သည် "ဟစ်က္ကမတ်" နှင့် ကင်းမဲ့သည်ဟူ၍ အလျှင်းမရှိပြီ။

ဟစ်ဂျ်ရတ် ➤➤



## (ဟစ်ဂျ်ရီသက္ကရာဇ် ၁-ခုနှစ်)

ထိုခေတ် ထိုအခါတွင် တရားမှန်ကို ဟောပြောခြင်း၏အကျိုးမှာ ဓားပင်ဖြစ်ခဲ့၏။ (ရန်သူတို့၏ ဓားသံများသည် တည်ည် ဖြစ်လျက်ရှိခဲ့၏) ထိုအချိန်တွင် ကမ္ဘာအဝန်းကို ထိန်းသိမ်းစောင့်ရှောက်တော်မူသော အလ္လာဟ်အရှင်မြတ်သည် ဒါရုလ်အမာန် (The House of Safety) ဘေးကင်းရာဌာနဖြစ်သည့် မဒီနာမြို့သို့ မွတ်စ်လင်မ်တို့အား ရွှေ့ပြောင်းနေထိုင်ရန် အမိန့်ပေးတော်မူလေသည်။ (ထိုအမိန့်တော်အရ မြောက်မြားစွာသော မွတ်စ်လင်မ်များသည် မက္ကာမြို့တော်မှ မဒီနာမြို့သို့ ရွှေ့ပြောင်း၍သွားခဲ့ကြလေပြီ)။ သို့ရာတွင် တမန်တော်မြတ် မိုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ရန်သူများ၏ အဓိကရန်ငြိုးထားခြင်းခံရသော ပုဂ္ဂိုလ်ဖြစ်တော်မူသော်လည်း ထိုအချိန်အထိ အလ္လာဟ်အရှင်မြတ်အထံတော်မှ ရွှေ့ပြောင်းထွက်ခွာသွားခွင့် မရသေးသဖြင့် အမိန့်တော်ကိုသာ စောင့်မျှော်လျက်ပင် ရှိတော်မူခဲ့ရ၏။

မက္ကာမြို့တော်အပြင်၌ ရှိကြသော အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ပြီးဖြစ်သော တန်ခိုးအာဏာရှိသောမွတ်စ်လင်မ်များက တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား အသက်သေခံ၍ ကာကွယ်ထိန်းသိမ်းစောင့်ရှောက်ကြပါမည့်အကြောင်း မေတ္တာရပ်ခဲ့ကြလေသည်။ ဒေါက်စ် မျိုးနွယ်ဝင်များထဲတွင် ခိုင်ခန့်သော ခံတပ်တခုရှိ၏။ ထိုမျိုးနွယ်၏ခေါင်းဆောင်ဖြစ်သူ တုဖိုင်လ်အစ်ဗ်နို့အမရ်သည် တမန်တော်မြတ်အား ရွှေ့ပြောင်းနေထိုင်တော်မူရန် အဆိုပါခံတပ်ကို ပေးအပ်ခဲ့၏။ တမန်တော်မြတ်ကမူ လက်ခံတော်မမူခဲ့။ ထို့အတူ ဟမ်ဒါန် မျိုးနွယ်ဝင်များအနက် ပုဂ္ဂိုလ်တဦးကလည်း တမန်တော်မြတ်အား မေတ္တာရပ်ခံခဲ့၏။ သို့ရာတွင် ယင်းကိစ္စအဝဝကို စီမံဖန်တီးတော်မူသော အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား ထိန်းသိမ်း စောင့်ရှောက်ရန် အခွင့်အရေးကို အန်ဆွာရ်များအား ချီးမြှင့်တော်မူလိုက်လေသည်။

တမန်တော်မြတ်သည် ဟစ်ဂျ်ရတ်မပြုလုပ်မီအလျင် အိပ်မက်မြင်မက်တော်မူသည်မှာ ဒါရုလ်ဟစ်ဂျ်ရတ် ရွှေ့ပြောင်းနေထိုင်ရာဌာနသည် ဥယျာဉ်ပန်းမာလာ စိုပြည်သောဌာနဖြစ်သည်။

ထိုဌာနသည် ယမာမဟ်မြို့ သို့မဟုတ် ဟစ်ဂျ်ရ်မြို့ ဖြစ်မည်ဟူ၍ ထင်မှတ်တော်မူခဲ့၏။ သို့ရာတွင် ရွှေ့ပြောင်းရာဌာနမှာ မဒီနာမြို့ပင် ဖြစ်နေပေသည်။

နဗဝီသက္ကရာဇ် (၁၃)နှစ်စေ့ပြီ၊ များစွာသော ဆွဟာဗဟ် သာဝကကြီးများသည်လည်း မဒီနာမြို့ကို ရွှေ့ပြောင်းသွားကြပေပြီ။ ထိုအခါတွင်မှ အလ္လာဟ်အရှင်မြတ်အထံတော်မှ တမန်တော်မြတ်ထံ မဒီနာမြို့သို့ ပြောင်းနေထိုင်ရန် အမိန့်တော်ကျရောက်လာခဲ့ပေသည်။

ထိုအမိန့်တော်အရ တမန်တော်မြတ်သည် မဒီနာမြို့သို့ ရွှေ့ပြောင်းနေထိုင်ရန် စိတ်ပိုင်းဖြတ်တော်မူလိုက်လေသည်။ ဤအကြောင်းသည် စိတ်နှလုံးကို အထူးထိခိုက်စေ၏။ ထို့အတွက်ကြောင့် အကျဉ်းသခေ်ပကို အထူးနှစ်ခြိုက်သော အေ့မာမ်ဗုခါရီ သခင်ကပင် ဤအကြောင်းကို အကျယ်ချဲ့၍ ရေးသားဖော်ပြထားသည်။ အထူးသဖြင့် ဤအကြောင်းကို အာအေရှဟ် (ရသွေ့ယလ္လာဟု တအာလာအန်ဟာ)သခင်မ၏ ကိုယ်တိုင်ပြောဆိုချက်မှ ရေးသားဖော်ပြထားသည်။ တမန်တော်မြတ် ဟစ်ဂျ်ရတ်ပြုလုပ်တော်မူသည့်အချိန်တွင် အာအေရှဟ်သခင်မ၏အသက်မှာ အတော်ပင်ငယ်သေး၏။ ဤအကြောင်းနှင့် စပ်လျဉ်း၍ အာအေရှဟ်သခင်မ၏ ပြောပြချက်သည် အမှန်အားဖြင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ကိုယ်တော်တိုင်၏ ပြောပြချက်၊ အဗူဗတ်ကရ် (ရသွေ့ယလ္လာဟု တအာလာအန်ဟု)သခင်၏ ပြောပြချက်ပင်ဖြစ်ပေသည်။ အဘယ်ကြောင့်ဆိုသော် အာအေရှဟ်သခင်မသည် ဤအကြောင်းကို ထိုပုဂ္ဂိုလ်မွန်တို့ထံမှ ကြားသိရ၍သာ ပြောပြနိုင်ခြင်းဖြစ်ပေမည်။ ၎င်းပြင် ဤအကြောင်း၏ အစပိုင်းတွင် အာအေရှဟ်သခင်မသည် မိမိကိုယ်တိုင်လည်း ရှိခဲ့ပေသည်။ ➤➤

➤➤ မွတ်စ်လင်မ်များသည် မဒီနာမြို့သို့ သွားရောက်၍ အခြေစိုက်လျက်ရှိကြ၏။ အစ္စလာမ် သာသနာသည်လည်း ပျံ့နှံ့တိုးပွားလျက်ရှိ၏။ ဤသည့်အချက်ကို ကုရိုက်ရှ်မျိုးနွယ်ဝင်များ သိကြသောအခါ "ဒါရွန်နဒ်ဝဟ်" (The Hall of Convocation) အစည်းအဝေး ပြုလုပ်ရာဌာနတွင် လူထု အစည်း အဝေးကြီးတရပ် ကျင်းပ၏။ ထိုအစည်းအဝေးသို့ မျိုးနွယ်အုပ်စုတိုင်းမှ ခေါင်းဆောင်များဖြစ်သော အွတ္တဗတ်၊ အဗူစုဖ်ယာန်၊ ဂျို့ဗိုင်ရ်အစ်ဗ်နို့ မွတ်အင်မ်၊ နသ်ရ်အစ်ဗ်နို့ ဟာရစ်ဆ် အစ်ဗ်နေ့ကလဒဟ်၊ အဗုလ်ဗခ်တရီ၊ အစ်ဗ်နို့ဟေ့ရှာမ်၊ ဇမ်အဟ် အစ်ဗ်နို့အတ်စ်ဝါဒ်၊ အစ်ဗ်နေ့မွတ္တလစ်ဗ်၊ ဟာကီမ်အစ်ဗ်ကီနို့ဟေ့ဇာမ်၊ အဗူဂျဟ်လ၊ နို့ဗိုင်ဟ်၊ မို့နဗ်ဗစ်ဟ်၊ အို့မိုင်ယဟ်အစ်ဗ် နို့ခလ်ဖ် . . . အစရှိသည့် ခေါင်းဆောင်များ စုံညီစွာ တက်ရောက်ကြ၏။ ထိုအစည်းအဝေးတွင် မွတ်စ်လင်မ်တို့၏အရေး၊ အထူးသဖြင့် တမန်တော်မြတ်မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏အရေးကို အဓိကထား၍ စဉ်းစားဆွေးနွေး တိုင်ပင်ကြ၏။

အချို့က '(တမန်တော်မြတ်) မုဟမ္မဒ်၏ ခြေထောက်တွင် သံခြေကျင်းခတ်၍ အိမ်တအိမ်တွင် ချုပ်နှောင်ထားရမည်' ဟူ၍အကြံပေး၏။ အချို့က '(တမန်တော်မြတ်)မုဟမ္မဒ်အား ပြည်နှင်ဒဏ်ပေးခြင်းသည် လုံလောက်သည်' ဟူ၍ အကြံပေး၏။ အဗူဂျဟ်လ်က "မျိုးနွယ်အုပ်စုတိုင်းမှ လူတယောက်စီ ရွေးချယ်ရမည်။ ၎င်းနောက် ထိုအရွေးချယ်ခံရသော လူအားလုံးတို့သည် စုပေါင်း၍ (တမန်တော်မြတ် မုဟမ္မဒ်ကို ဓားများဖြင့် တကြိမ်တည်း သုတ်သင်ကြရမည်၊ ဤသို့ပြုလုပ်ခြင်းအားဖြင့် (တမန်တော်မြတ် မုဟမ္မဒ်၏အသက်ဖိုးကို မျိုးနွယ်အုပ်စု အားလုံးက ဝေပုံကျခံရပေမည်။ ထိုအခါ ဟာရှင်မ်၏မျိုးနွယ်အုပ်စု တခုတည်းသည် ဤကျန်မျိုးနွယ် အားလုံးနှင့် ပြိုင်ဆိုင်နိုင်မည်မဟုတ်" ဟုအကြံပေးလေသည်။ အစည်းအဝေးသို့ တက်ရောက်ကြသောသူ အားလုံးတို့သည် အဗူဂျဟ်လ်၏ အကြံပေးချက်ကို တညီတညွတ်တည်း လက်ခံသဘောတူလိုက်ကြသည်။

ယင်းသို့ လက်ခံ သဘောတူလိုက်ကြသည်နှင့်တပြိုင်နက် တာဝန်ပေးခြင်းခံရသူများသည် လျှင်မြန်စွာ တမန်တော်မြတ်၏နေအိမ်ကို ဝိုင်းထားလိုက်ကြလေသည်။ အရဗ်လူမျိုးတို့သည် အမျိုးသမီးရှိသော အိမ်များ အတွင်းသို့ ဝင်ခြင်းကို မကောင်းဟု ထင်မှတ်ကြသည်။ မနှစ်ခြိုက်ကြပေ။ ထို့အတွက်ကြောင့်ပင် ထိုသူများသည် တမန်တော်မြတ်၏နေအိမ်၏ အပြင်ဘက်၌ပင် စောင့်ဆိုင်းကာ တမန်တော်မြတ် အိမ်ပြင်သို့ ထွက်တော်မူလာလျှင် မိမိတို့၏တာဝန်အရ တမန်တော်မြတ်အား အပြီး သုတ်သင်ကြရန် အသင့်ရှိနေကြသည်။

ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် တမန်တော်မြတ်အား အလွန်တရာမျှ မုန်းတီးနေကြသော်လည်း တမန်တော်မြတ်၏ အမာနတ် သစ္စာသမာဓိကိုမူ အထူး ယုံကြည်ကိုးစားကြလေသည်။ သို့အတွက်ကြောင့်ပင် မည်သူမဆို မိမိ၏ ပစ္စည်းတစုံတခုကို အပ်နှံထားလိုက တမန်တော်မြတ်ထံ၌ပင် အပ်နှံထားလေ့ရှိကြလေသည်။ ယင်းကဲ့သို့ တမန်တော်မြတ်အား လုပ်ကြံရန် စိုင်းပြင်းလျက် ရှိကြသည့် အချိန်အခါမျိုးမှာပင် တမန်တော်မြတ် ထံတွင် အပ်နှံ၍ထားသောပစ္စည်းသည် အမြောက်အမြား ရှိနေပေသည်။

တမန်တော်မြတ်သည် ကုရိုက်ရှ်မျိုးနွယ်ဝင်များ၏ အကြံအစည်ကို ကြိုတင်၍ သိရှိပြီး ဖြစ်တော်မူ၏။ ထို့အတွက်ကြောင့်ပင် တမန်တော်မြတ်က သာဝကကြီးအလီသခင်အား ခေါ်၍ "ကျွန်ုပ်သည် 'ဟစ်ဂျ်ရတ်' ပြုရန် အမိန့်တော်ရရှိပြီ။ ယနေ့ပင် ကျွန်ုပ်သည် မဒီနာမြို့သို့ ရွှေ့ပြောင်း၍ သွားရတော့မည်။ အသင်သည် ကျွန်ုပ်၏အိပ်ယာတွင် ကျွန်ုပ်၏စောင်ကို ခြုံပြီးအိပ်၍နေပါ။ နံနက်မိုးသောက်သောအခါ အပ်နှံထားသော ပစ္စည်းများကို တခုမကျန် သက်ဆိုင်ရာပုဂ္ဂိုလ်များထံ သွားရောက်၍ ပေးအပ်ပါ" ဟု အမှတ်တရ မှာကြားတော်မူလေသည်။

ထိုအချိန်သည် အလွန်တရာပင် စိုးရိမ်ကြောင့်ကြရသော အချိန်ဖြစ်၏။ ကုရိုက်ရှ်မျိုးနွယ် ➤➤

➤➤ ဝင်များသည် တမန်တော်မြတ်အား လုပ်ကြံသတ်ဖြတ်ရန် အသင့်ရှိနေကြောင်းနှင့် ယနေ့အဖို့ တမန်တော်မြတ်၏ အိပ်ရာသည် (The Place of Execution) လူသတ်ရုံ ဖြစ်နေကြောင်းကိုလည်း သာဝကကြီး အလီသခင်သည် ကောင်းစွာသိရှိပေသည်။ သို့တစေလည်း တမန်တော်မြတ်၏အိပ်ရာသည် "ခိုင်ဗရ်" စစ်ပွဲတွင် အောင်နိုင်မည်ဖြစ်သော စစ်ဗိုလ်ကြီး သာဝကကြီးအလီသခင် အဖို့မှာကား ပန်းဖြင့်ပြီးသော ကော်ဇောအခင်း ကမ္ဗလာဖုံးမွေ့ရာ အမှန်ဖြစ်လျက်ရှိပေသည်။

တမန်တော်မြတ်သည် ဟစ်ဂျ်ရတ်မပြုမီ ၂-ရက်၊ ၃-ရက် အလျင် နေ့လည်အချိန်တွင် သာဝကကြီး အဗူဗတ်ကရ်၏အိမ်သို့ ကြွရောက်တော်မူ၏။ အလေ့အထအတိုင်း တံခါးကို ခေါက်တော်မူ၏။ အခွင့်ရရှိသည့်အခါ အိမ်တွင်းသို့ ဝင်သွားတော်မူ၏။ ထို့နောက် တမန်တော်မြတ်က သာဝကကြီးအဗူဗတ်ကရ်အား "အနည်းငယ် တိုင်ပင်ရန်ရှိသည်၊ လူအားလုံးကို ခေတ္တဖယ်လိုက်ပါ" ဟု ပြောကြားတော်မူရာ သာဝကကြီး အဗူဗတ်ကရ်က "အိမ်တွင် တမန်တော်မြတ်၏ ကြင်လျာတော်အပြင် မည်သူမျှမရှိပါ" ဟု ဖြေကြားလေသည်။ (ထိုအချိန်တွင် တမန်တော်မြတ်သည် အာအိရှဟ်သခင်မနှင့် ထိမ်းမြားပြီးဖြစ်တော်မူသည်)။

ထိုအခါ တမန်တော်မြတ်က "ကျွန်ုပ်သည် ဟစ်ဂျ်ရတ်ပြုရန် အမိန့်တော်ရရှိပြီ" ဟု ပြောကြားတော်မူရာ သာဝကကြီး အဗူဗတ်ကရ်က စိတ်မချုပ်တည်းနိုင်တော့ပဲ "ကျွန်တော်၏မိဘနှစ်ပါးသည် ကိုယ်တော့်ဖို့ လုံးလုံး ဖြစ်ပါစေ၊ ကျွန်တော်လည်း အတူလိုက်ပါရစေ" ဟု မေတ္တာရပ်ခံလေရာ တမန်တော်မြတ်က လက်ခံ သဘောတူ တော်မူလိုက်လေသည်။ သာဝကကြီး အဗူဗတ်ကရ်သည် ဟစ်ဂျ်ရတ်ပြုလုပ်ရာတွင် အသုံးပြုနိုင်ရန်အတွက် ယခင် ၄-လကပင် ကုလားအုပ်မ ၂-ကောင်ကို 'ဗဗူလ်' Acacia tree ၏အရွက်များကို ကျွေးမွေး၍ အသင့်ပြုလုပ်ထားခဲ့၏။ သာဝကကြီး အဗူဗတ်ကရ်က တမန်တော်မြတ်အား "တမန်တော်မြတ် ဤကုလားအုပ်မ ၂-ကောင် အနက် ကြိုက်နှစ်သက်ရာကို ရွေးချယ်ယူတော်မူပါ" ဟု ပန်ကြား၏။ တမန်တော်မြတ်သည် သူတပါး၏ ကျေးဇူးခံ ဖြစ်လိုတော်မမူသဖြင့် "သို့ရာတွင် အဖိုးအခဖြင့်သာ ယူမည်" ဟု ပြောကြားတော်မူ၏။ သာဝကကြီး အဗူဗတ်ကရ်သည်လည်း မတတ်သာ၍ လက်ခံလိုက်ရလေသည်။

ထိုအချိန်တွင် အာအိရှဟ်သခင်မသည် အသက်အရွယ်ငယ်သေး၏။ အာအိရှဟ်သခင်မ၏ အစ်မ၊ အဗ်ဒုလ္လာဟ်အစ်ဗ်နုဇိုဗိုင်ရ်၏ အမိဖြစ်သူ အတ်စ်မာ သခင်မက ခရီးဆောင်ပစ္စည်းများကို ပြင်ဆင်၏။ ၂-ရက်၊ ၃-ရက်အတွက် စားဖွယ်သောက်ဖွယ်ရာများကို အသင့်ပြင်ဆင်၏။ သို့စားဖွယ်သောက်ဖွယ်ရာများကို ပြင်ဆင်၍ စနစ်တကျထုပ်သည့်အခါ ထုပ်ရန်ကြိုးမရှိသဖြင့် "နေ့တွာကက်' ခေါ် အမျိုးသမီးများခါးတွင် ရစ်ပတ်လေ့ရှိသော ခါးကြိုးကိုဖဲ့၍ စားဖွယ်သောက်ဖွယ်ရာများ၏ အထုပ်ကိုထုပ်လေသည်။ ထိုသို့ စားဖွယ် သောက်ဖွယ်ရာများကို အထုပ်ထုပ်ရာတွင် ခါးစည်းကြိုးဖြင့် ထုတ်ခဲ့သည်ကို အကြောင်းပြု၍ ယနေ့ထက်တိုင် အတ်စ်မာသခင်မသည် ဇါတွန် နေ့တွာကိုင်းန် ဟူသော ဘွဲ့နာမဖြင့် ကျော်ကြားလာခဲ့လေသည်။

ကာဖိရ်များသည် တမန်တော်မြတ်၏ အိမ်ကို ဝိုင်းထားကြ၏။ ညလည်း အတော်နက်သွားပြီဖြစ်၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့အား အိပ်ပျော်သွားစေတော်မူ၏။ ထိုအချိန်တွင် တမန်တော်မြတ်သည် ထိုသူတို့အား အိပ်ပျော်လျက် ရှိကြသည့်အတိုင်း ထားရှိတော်မူပြီး အိမ်ပြင်သို့ ထွက်လာတော်မူခဲ့၏။ တမန်တော်မြတ်သည် 'ကအ်ဗဟ်' ကျောင်းတော်ကို ဖူးမြင်တော်မူလိုက်သောအခါ "အို ... မက္ကာ၊ အကျွန်ုပ်သည် အသင့်ကို ကမ္ဘာ့အဝန်းထက် ပို၍ မြတ်နိုးပါသည်။ သို့ရာတွင် အသင်၏သားသမီးများသည် ကျွန်ုပ်အား နေခွင့်မပေးကြပါ" ဟု တိုင်တည် ပြောကြားတော်မူလေသည်။

တမန်တော်မြတ်သည် ဟစ်ဂျ်ရတ်ပြုရန်ကိစ္စနှင့်စပ်လျဉ်း၍ အဗူဗတ်ကရ်အား ပြောကြားပြီး ➤➤

➤➤ ဖြစ်၏။ တမန်တော်မြတ်နှင့် သာဝကကြီး အဗူဗတ်က်ရ်တို့သည် ဦးစွာပထမ ဂျဗဟ်ဆောင်ရ် ခေါ်ဆောင်ရ် အမည်ရှိသော တောင်၏ ဥမင်လိုဏ်ဂူတွင် သွားရောက်ပြီး ပုန်းအောင်း၍ နေကြ၏။ ယနေ့ထက်တိုင် အဆိုပါ ဥမင်လိုဏ်ဂူသည် တည်ရှိ၏။ မွတ်စလင်မ်တို့သည် ထိုဥမင်လိုဏ်ဂူကို အမြတ်တနိုး နမ်းရှုပ်ကြ၏။ သာဝကကြီး အဗူဗတ်က်ရ်၏သား အဗ်ဒွလ္လာဟ်သည် ညအချိန်တွင် အဆိုပါ ဥမင်လိုဏ်ဂူ၌ အိပ်၏။ နံနက်မိုးမလင်းမီ မြို့တွင်းသို့ပြန်၍ သွားပြီး ကုရိုက်ရှ်မျိုးနွယ်ဝင်များ၏ ဆွေးနွေးတိုင်ပင်ချက်များကို လေ့လာ၏။ ရရှိသမျှသော သတင်းများကို ညနေအချိန်တွင် တမန်တော်မြတ်ထံ လာရောက်အစီရင်ခံ၏။ သာဝကကြီး အဗူဗတ်က်ရ်၏ကျွန်ဖြစ်သူ အာမိရ်အစ်ဗ်နဖုဟိုင်ရဟ်သည်၊ ညအတော်မှောင်သည့် အချိန်တွင် ထိုဥမင်လိုဏ်ဂူရှိရာဘက်သို့ ဆိတ်များကို မောင်း၍လာ၏။ တမန်တော်မြတ်နှင့် သာဝကကြီး အဗူဗတ်က်ရ်တို့သည် ဆိတ်နို့များကို သောက်သုံးကြ၏။ သုံးရက်တိုင်တိုင် ဤသည်ကိုပင် အာဟာရပြုလုပ်၍ နေခဲ့ကြရ၏။ သို့ရာတွင် အစ်ဗ်နို့ဟော့ရှာမ်က 'အတ်စ်မာသခင်မသည် နေ့တိုင်း ညနေအချိန်တွင် အိမ်မှထမင်းဟင်းများ ချက်ပြုတ်ပြီး အဆိုပါ ဥမင်လိုဏ်ဂူသို့ လာ၍ပို့လေ့ရှိ၏။ ဤသို့အားဖြင့် လိုဏ်ဂူတွင် သုံးရက်ကုန်ဆုံးခဲ့၏' ဟူ၍ ရေးသားဖော်ပြထား၏။

တမန်တော်မြတ်အား လုပ်ကြံရန်အတွက် တမန်တော်မြတ်၏အိမ်ကို ဝိုင်းထားကြသော ကာဖိရ်များသည် နံနက်မိုးသောက်၍ မျက်စိပွင့်သောအခါ တမန်တော်မြတ်၏အိပ်ရာအပေါ်တွင် တမန်တော်မြတ်ကို မတွေ့ကြရပဲ သာဝကကြီး အလီသခင်ကိုသာ တွေ့ကြရသည်။ ကာဖိရ်များသည် သာဝကကြီး အလီသခင်အား ဖမ်းဆီးပြီး ကအ်ဗဟ်ကျောင်းတော်သို့ ခေါ်ဆောင်သွား၍ ခေတ္တချုပ်နှောင်ထားကြ၏။ ထို့နောက် လွှတ်လိုက်ကြ၏။ ပြီးနောက် ထိုသူများသည် တမန်တော်မြတ်အား လိုက်လံရှာဖွေကြလေသည်။ ယင်းသို့ လိုက်လံရှာဖွေယင်း ထိုသူများသည် အဆိုပါ ဥမင်လိုဏ်ဂူဝသို့ပင် ရောက်ရှိလာခဲ့ကြ၏။ ရန်သူများ၏ခြေသံကို ကြားသောအခါ သာဝကကြီး အဗူဗတ်က်ရ်သည် ပူပင်သောကဖြစ်ရှာ၏။ တမန်တော်မြတ်အား "ရန်သူများသည် အလွန် နီးကပ်လာကြပြီ။ အကယ်၍ ရန်သူများသည် ကျွန်တော်တို့၏ ခြေထောက်များကို မြင်သွားကြလျှင် ကျွန်တော်တို့ကို တွေ့သွားကြလိမ့်မည်" ဟု ပြောကြားလေရာ တမန်တော်မြတ်က ကုရ်အာန်ကျမ်းလာ အောက်ပါအာယတ်တော်ကို ရွတ်ဖတ်၍ ပြတော်မူလေသည်။

لَا تَحْزَنْ إِنَّ اللّٰهَ مَعَنَا

အသင် ပူပင်သောက မဖြစ်ပါလင့်၊ မချွတ်ကေန် အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့နှင့်
အတူတကွ ရှိတော်မူပေသည်။ (၉း၄၀)

**မမှန်ကန်သော အကြောင်းတရပ်။**

ကျော်ကြားနေသည့် မမှန်ကန်သော အကြောင်းတရပ်မှာ ရန်သူများသည် အဆိုပါ ဥမင်လိုဏ်ဂူ၏အနီးသို့ ရောက်ရှိလာသောအခါ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြင့် ရုတ်တရက် ချက်ချင်း "ဗဗူလ်" အပင်သည် ပေါက်လာပြီး အကိုင်းအလက်များပြန့်၍ တမန်တော်မြတ်နှင့် သာဝကကြီး အဗူဗတ်က်ရ်တို့အား ဖုံးအုပ်ထားလိုက်လေသည်။ ထိုအချိန်မှာပင် ခိုနှစ်ကောင် ရောက်ရှိလာပြီး အသိုက်လုပ်၍ ဥ၏။ ကအ်ဗဟ်ကျောင်းတော်တွင်းရှိ ခိုများသည် အဆိုပါ ခိုနှစ်ကောင်၏ အမျိုးအနွယ်များ ဖြစ်နေသည်" ဟူ၍ ဖြစ်သည်။

ထို "ရေဝါယတ်' ကို မဝါဟစ်ဗ်လဒွန်နိယဟ်" ကျမ်းတွင် အကျယ်တဝင့် ရေးသားဖော်ပြထား၏။ ဇုရ်ကာနီက ဗတ်ဖ်ဇာဇ်နှင့် အခြားပညာရှင်များမှတင့် ထိုရေဝါယတ်လာ မှာ့ခါ့ဇ် မူလကျမ်းများကို ဖော်ပြထား၏။ သို့ရာတွင် ထိုရေဝါယတ်များသည် အမှားစင်စစ်သာ ဖြစ်ချေ၏။ ထို "ရေဝါယတ်" ၏မူလပထမ "ရာဝီ" မှာ အောင်န် အစ်ဗ်နို့ အမ်ရ်ဖြစ်သည်။ ဤပုဂ္ဂိုလ်နှင့်စပ်လျဉ်း၍ ဖန်နေ့ရေဂျာလ်မည်သော ပညာ၏ ➤➤

➤➤ ပါရဂူကြီးဖြစ်သော ယဟ်ယာအစ်ဗ်နို့မို့အီနက "ဤသူသည် ဘာမျှမဟုတ်" ဟူ၍ ဝေဖန်ရေးသားထား၏။ အှေမာမ်ဗိုခါရီသခင်ကလည်း ယင်းပုဂ္ဂိုလ်နှင့်စပ်လျဉ်း၍ "ဤသူသည် မွန်ကရုလ်ဟဒီဆ် ဖြစ်၏။ မဂျ်ဟူလ် မကျော်ကြားသူလည်းဖြစ်၏" ဟူ၍ ဝေဖန်ရေးသားထား၏။ ထို "ရေဝါယတ်" ၏ အခြား "ရာဝီ" တဦးမှာ အဗူမွတ်ဆွဲအဗ်မက္ကီ ဖြစ်၏။ ဤပုဂ္ဂိုလ်သည်လည်း "မဂျ်ဟူလုလ်ဟာလ်" မကျော်ကြားသူပင် ဖြစ်၏။ ထို့အတွက်ကြောင့်ပင် အလ္လာမဟ်ဇဟဗီက မိဇာနုလ်အစ်အ်တေ့ဒါလ် ကျမ်းတွင် အောင်န်အစ်ဗ်နို့ အမ်ရ်၏ အကြောင်းကို ရေးသားရာ၌ ယင်းပုဂ္ဂိုလ်နှင့် စပ်လျဉ်း၍ အထက်တွင် ဖော်ပြပါရှိသော ဝေဖန်ချက်များကိုလည်း ထည့်သွင်းရေးသားဖော်ပြထား၏။ ၎င်းပြင် ထို "ရေဝါယတ်" ကိုလည်း ရေးသား ဖော်ပြထားလေသည်။

တမန်တော်မြတ်သည် အဆိုပါလိုဏ်ဂူမှ စတုတ္ထနေ့တွင် ထွက်တော်မူ၏။ အဗ်ဒွလ္လာဟ် အစ်ဗ်နို့အို ရိုင်ကစ်တ်သည် ကာဖိရ်တယောက်ဖြစ်၏။ ယုံကြည်စိတ်ချရ၏။ တမန်တော်မြတ်သည် ထိုသူအား ခရီးလမ်းပြရန် အတွက် အခကြေးငွေပေး၍ ငှားတော်မူ၏။ ထိုကာဖိရ်သည် တမန်တော်မြတ်နှင့်သာဝကကြီး အဗူဗတ်က်ရ်တို့အား ရှေ့မှနေ၍ လမ်းပြခဲ့၏။ တမန်တော်မြတ်နှင့် သာဝကကြီး အဗူဗတ်က်ရ်တို့သည် တနေ့နှင့် တည ခရီးထွက်ခွာ လာနိုင်ခဲ့ကြ၏။ ဒုတိယနေ့ နေ့လည်အချိန်တွင် နေပူရှိန်သည် အလွန်ပြင်းထန်၏။ ထိုအခါ သာဝကကြီး အဗူဗတ်က်ရ်သည် တမန်တော်မြတ်အား အရိပ်အာဝါသအောက်တွင် အပန်းဖြေစေလိုသဖြင့် အရပ်လေးမျက်နှာသို့ ကြည့်ရှုရာ ကျောက်ဆောင်တခုအောက်တွင် အရိပ်ကိုမြင်၏။ အစီးအနင်းမှဆင်း၍ ထိုအရိပ်ရှိရာနေရာကို သန့်ရှင်းအောင်ပြု၏။ ၎င်းနောက် မိမိ၏စောင်ပိုင်းကိုခင်း၏။ တမန်တော်မြတ်သည် ထိုအရိပ်အာဝါသအောက်တွင် အပန်းဖြေတော်မူ၏။

ယင်းသို့ တမန်တော်မြတ် အပန်းဖြေနေတော်မူစဉ် သာဝကကြီးအဗူဗတ်က်ရ်သည် တစုံတရာ စားဖွယ်သောက်ဖွယ် ရရှိနိုင်ရန် လိုက်လံရှာဖွေပြန်၏။ အနီး၌ပင် ဆိတ်များထိန်းကျောင်းနေသော ဆိတ်ကျောင်း သမားတယောက်ကို မြင်၏။ ထိုအခါ သာဝကကြီးအဗူဗတ်က်ရ်သခင်က ထိုဆိတ်ကျောင်းသမားအား ဆိတ်မ တကောင်၏ နို့အုံကို သန့်ရှင်းစေရန် ပြော၏။ ဆိတ်ကျောင်းသမား၏ လက်ကိုလည်း ဆေးစေ၏။ နို့ညှစ်မည့် ခွက်ကိုလည်း ဖုန်၊ မြူမှုန့်၊ အမှိုက်သရိုက်များ မဝင်နိုင်ရန် အဝတ်ဖြင့် ရစ်ပတ်စေ၏။ ပြီးနောက်မှ နို့ကို ညှစ်စေ၏။ ယင်းသို့ နို့ညှစ်ပြီးသောအခါ သာဝကကြီးအဗူဗတ်က်ရ်သည် ထိုနို့တွင် အနည်းငယ်ရေရော၍ တမန်တော်မြတ်အား ပေးလေသည်။ တမန်တော်မြတ်သည် နို့ကို သောက်သုံးတော်မူပြီးလျှင် "ခရီးဆက်လက်၍ သွားရန် အချိန်မရောက်သေးဘူးလား" ဟု မေးမြန်းတော်မူ၏။ အချိန်ကား မွန်းတိမ်းချေပြီ။ ထို့အတွက်ကြောင့် တမန်တော်မြတ်သည် ထိုနေရာမှ ခရီးဆက်လက်၍ ထွက်တော်မူခဲ့၏။

ထိုအချိန်တွင် ကိုရိုက်ရှ်မျိုးနွယ်များက '(တမန်တော်မြတ်) မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိစလ္လမ်) ကိုသော်လည်းကောင်း၊ (သာဝကကြီး) အဗူဗတ်က်ရ်ကိုသော်လည်းကောင်း ဖမ်းဆီးပေးသောသူအား လူတယောက် ၏ အသက်ဖိုးလျော်ကြေးငွေနှင့် ညီမျှသော(ဝါ)ကုလားအုတ် ၁၀၀-ကို ဆုအဖြစ်ပေးမည်' ဟူ၍ ကြေငြာလေသည်။ စိုရာကဟ်အစ်ဗ်နို့ ဂျုအ်ရှုန်မ် အမည်ရှိသော ကာဖိရ်တယောက်သည် ထိုကြေငြာချက်ကို ကြားသိရသောအခါ အဆိုပါဆုလာဘ်ကို လိုချင်ဇောဖြင့် ဖမ်းဆီးရန်ထွက်လေ၏။ ထိုသူသည် တမန်တော်မြတ်အား ခရီးထွက်နေတော် မူသည့် အချိန်မှာပင် မြင်မိလိုက်၏။ ထိုအခါသူသည် မိမိစီးနင်းလာသောမြင်းကို အမြန်စိုင်း၏။

တမန်တော်မြတ်၏အနီးသို့ ရောက်ရှိလာသောအခါ မြင်းသည် ခလုတ်တိုက်မိသဖြင့် ထိုသူ လိမ့်ကျလေ၏။ ထိုအချိန်တွင် ထိုသူသည် အတိတ်နိမိတ်ကောက်ရန် မြှားကျည်တောက်ထဲမှ မြှားများကိုထုတ်၍ တိုက်ခိုက်သင့်သည်၊ မတိုက်ခိုက်သင့်သည်ကိုကြည့်၏။ မတိုက်ခိုက်သင့်ဟူ၍ အတိတ်ပေးသောမြှား ➤➤

➤➤ ထွက်လာခဲ့၏။ သို့ရာတွင် များပြားလှသော ဆုလာဘ်၏လောဘရမ္မက်ကြောင့် ထိုသူသည် အတိတ်မြွား၏ စကားကို လက်မခံနိုင်ပဲ တဖန်မြင်းကို စီးနင်း၍ ရှေ့သို့တိုးပြန်သည်။ ဤအချိန်တွင် မြင်း၏ခြေထောက်များသည် ဒူးဆစ်အထိ မြေထဲနစ်မြုပ်သွားလေ၏။ ထိုအချိန်တွင် ထိုသူသည် မြင်းပေါ်မှဆင်း၍ အတိတ်မြွားကို ထုတ်ပြီးကြည့်ပြန်၏။ ထိုအချိန်တွင်လည်း မတိုက်ခိုက်သင့်ဟူ၍ အတိတ်ပေးသော မြွားပင် ထွက်လာပြန်၏။ ယင်းသို့ အကြိမ်ကြိမ် စမ်းသပ်ကြည့်ရှုသည့် အဆုံးတွင် ထိုသူ၏ စိတ်ဓာတ်ထက်မြက်မှု၊ ရဲစွမ်းသတ္တိရှိမှုတို့သည် လျော့နည်းသွားလေ၏။ ထိုသူသည် မိမိ၏စိတ်တွင် "ဤသည့်အဖြစ်အပျက်၊ အတိတ်နမိတ်များအား ရိုးရိုးမဟုတ်၊ တမျိုးတဖုံပင် ဖြစ်သည်" ဟူ၍ ယုံကြည်လာလေ၏။ ထိုအခါ ထိုသူသည် တမန်တော်မြတ်ထံသို့ ဝင်ရောက်၍ ကိုရိုက်ရှ်မျိုးနွယ်၏ ကြေငြာချက်ကို ပြောပြပြီးလျှင် မိမိအား အသက် ချမ်းသာခွင့်ပေးပါရန် မေတ္တာရပ်ခံလေသည်။ ထိုအခါ တမန်တော်မြတ်၏အမိန့်အရ သာဝကကြီးအဗူဗတ်က်ရ်၏ ကျွန်ဖြစ်သူ အစ်ဖ်နီဖုဟိုင်ရဟ်က သားရေပေါ်တွင် အသက်ချမ်းသာခွင့်ကို ရေး၍ ပေးလိုက်လေသည်။

အကြောင်းအားလျော်စွာ ထိုအချိန်မှာပင် သာဝကကြီး ဖို့ဗိုင်ရ်သခင်သည် ဆီရိယနိုင်ငံမှ ကုန်ပစ္စည်းများ ယူဆောင်၍ပြန်လာ၏။ သာဝကကြီး ဖို့ဗိုင်ရ်သခင်သည် တမန်တော်မြတ်နှင့် သာဝကကြီး အဗူဗတ်က်ရ်တို့အား အဖိုးထိုက်တန်လှသည့် အဝတ်အထည်များကို မေတ္တာလက်ဆောင်အဖြစ်ပေးလေသည်။ ယင်းကဲ့သို့ဒုက္ခများနှင့် ရင်ဆိုင်နေရသည့် အချိန်အခါမျိုးတွင် ထိုအဝတ်အထည်များသည် အဘယ်မျှ အဖိုးထိုက်တန်သည်ကို ထုတ်ဖော် ရေးသားနေရန်ပင် မလိုပေ။

အစ်ဗ်နီ့စအဒ်သည် တွဗကာတ်တွင် ဤမွန်မြတ်လှသောခရီး၌ တမန်တော်မြတ် စခန်းချတော်မူရာ ဌာနအသီးသီးကို အသေးစိတ် ရေးသားဖော်ပြထား၏။ ထိုသို့ စခန်းချတော်မူရာ ဌာနများကို ယခုအချိန်တွင် အရဗ်မြေပုံများတွင် မတွေ့ရှိရတော့ပေ။ သို့တစေလည်း တမန်တော်မြတ်အား ယုံကြည်မြတ်နိုးသော ပုဂ္ဂိုလ်များသည် စခန်းချတော်မူရာဌာနကို ကြားသိရုံမျှဖြင့် ပီတိဖြစ်လျက် ရှိကြပေသည်။ စခန်းချတော်မူခဲ့သော ဌာနများမှာ ခရ်ရာရ်၊ ဆနီယတုလ်မရ်ရဟ်၊ လက်ဖ်၊ မဒ်လိဂျဟ်၊ မရဂျိဟ်၊ ဂျဒါဂျစ်ဒ်၊ အဂျ်ရဒ်၊ ရာဗစ်ဃ် (ဤဌာနသည် ယနေ့ထက်တိုင် ဟာဂျီများ၏ခရီးလမ်းတွင် တွေ့ရှိရပေသေးသည်။) တမန်တော်မြတ်သည် ဤဌာနတွင် မဃ်ရစ်ဗ် ဆွလာတ်ဝတ်ပြုတော်မူခဲ့လေသည်။ ဇာစလင်မ်၊ အစ်ဆ်ယာနဟ် (အဗာဗီဗ်) ဖာဂျ်ဂျဟ် (ကာဟဟ်) အဂ်ရ်ဂျ်၊ ဂျဒ်ဝါတ်၊ ရကူဗဟ်၊ အကီက်၊ ဂျဆ်ဂျာဆဟ်တို့ဖြစ်သည်။

မဒီနာမြို့သို့ တမန်တော်မြတ် ကြွရောက်လာတော်မူမည့် သတင်းသည် မဒီနာမြို့သို့ရောက်နှင့်ပြီး ဖြစ်၏။ ထို့အတွက်ကြောင့် မဒီနာမြို့ တမြို့လုံးသည် တမန်တော်မြတ်အား အထူးတလည် စောင့်မျှော်လျက်ရှိ၏။ လူကြီးများသာမဆိုထားဘိ၊ ကလေးသူငယ် လူမမယ်ကလေးများသည်ပင် ဝမ်းသာအားရ ပျော်မြူးကာ "တမန်တော်မြတ် ကြွရောက်လာနေပြီ" ဟူ၍ ပြောဆိုလျက်ရှိကြ၏။ လူများသည် တမန်တော်မြတ်အား ခရီးဦးကြိုပြုရန်အတွက် နံနက် အာရုဏ်တက်ချိန်မှပင် မြို့ပြင်သို့ထွက်၍စုကြ၏။ မွန်းတိမ်းသည့်အချိန်အထိ စောင့်မျှော်၍ ကြွရောက်မလာ တော်မူသည့်အခါ ဝမ်းနည်းစွာဖြင့် ပြန်သွားကြရ၏။ တနေ့သော်လူများသည် ယမန်နေ့များကကဲ့သို့ပင် စောင့်မျှော်၍ ပြန်လည်သွားကြ၏။ ယဟူဒီတယောက်က ခံတပ်မှကြည့်၍ တမန်တော်မြတ် ကြွရောက်လာတော် မူလာသည့် အတိတ်နမိတ်များကို ရိပ်စားမိကာ "အို-အရဗ်အမျိုးသားတို့၊ အသင်တို့ စောင့်မျှော်လျက်ရှိသော ပုဂ္ဂိုလ်မြတ်သည်ကား ကြွလာနေပြီ' ဟု အော်ဟစ်ပြောဆိုလိုက်ရာ၊ မဒီနာမြို့တမြို့လုံးသည် "အလ္လာဟ်ဟို့ အတ်က်ဗရ်" ဟူသောဟစ်ကြွေးသံသည် ပဲ့တင်ထပ်မျှ ဆူညံ၍သွားလေတော့သည်။ အန်ဆွာရ်မျိုးနွယ်ဝင်များ သည်လည်း လက်နက်များကိုဆွဲကိုင်ကာ ဝမ်းပန်းတသာ အိမ်ရာများမှထွက်၍ ခရီးဦးကြိုပြုကြလေသည်၊➤➤

➤➤ မဒီနာမြို့နှင့် သုံးမိုင်အကွာ မြို့မျက်နှာစာ၌ လူနေရပ်ကွက်တခုရှိသည်။ ထိုအရပ်ကို "အာလိယဟ်" ဟူ၍လည်းကောင်း၊ "ကို့ဗာ" ဟူ၍လည်းကောင်း၊ ခေါ်ဝေါ်သမုတ်ကြ၏။ ထိုအရပ်တွင် အန်ဆွာရ်မျိုးနွယ်စုများ အမြောက်အမြား နေထိုင်လျက်ရှိကြ၏။ ထိုမျိုးနွယ်စုများတွင် အထူးတလည် ကျော်ကြားသော မျိုးနွယ်စုမှာ အမ်ရ်အစ်ဗ်နို့အောက်ဖ်၏ မျိုးနွယ်စုပင်ဖြစ်၏။ ကုလ်ဆူမ်အစ်ဗ်နို့အလ်ဟစ်ဒ်မ်သည် အဆိုပါ မျိုးနွယ်စု၏ အကြီးအကဲပင် ဖြစ်၏။ တမန်တော်မြတ်သည် ထိုအရပ်သို့ ရောက်တော်မူသည့်အခါ ထိုမျိုးနွယ်ဝင်အားလုံးတို့သည် ဝမ်းပန်းတသာ လွန်စွာစိတ်က နှစ်သက်လှ၍ "အလ္လာဟ်ဟို့ အတ်က်ဗရ်" ဟူ၍ ဥက္ကောဋ္ဌေယျ ကြွေးကြော်ကြ၏။ ထိုမျိုးနွယ်စုသည် တမန်တော်မြတ်အား ဧည့်ခံပြုစုရန် မေတ္တာရပ်ခံလေရာ တမန်တော်မြတ်သည် ကုလ်ဆူမ် အစ်ဗ်နို့အလ်ဟစ်ဒ်မ်၏ ဧည့်ခံမှုကို လက်ခံတော်မူလိုက်လေသည်။ ဤသည် ထိုပုဂ္ဂိုလ်ကြီးအဖို့ ကြီးမားလှသော ဂုဏ်ယူဖွယ်ရာပင် ဖြစ်ပေသည်။ အန်ဆွာရ်မျိုးနွယ်ဝင်များသည် အဘက်ဘက်မှ အုပ်စုလိုက် အုပ်စုလိုက် ရောက်ရှိလာကြပြီး တမန်တော်မြတ်အား စလာမ်ဆက်သကြလေသည်။ မြောက်မြားစွာသော "ဆွာဟာဗဟ်" သာဝကကြီးများသည် တမန်တော်မြတ်အလျင် မဒီနာမြို့သို့ ရောက်ရှိနေခဲ့ကြ၏။ ထိုသို့သော သာဝကကြီးများ သည် အဆိုပါပုဂ္ဂိုလ်ကြီး၏အိမ်၌ပင် ဧည့်သည်အဖြစ် တည်းခိုနေခဲ့ကြ၏။ သာဝကကြီး အဗူအို့ဗိုင်ဒဟ်၊ မစ်က်ဒါဒ်၊ ခဗ္ဗားဗ်၊ စို့ဟိုင်လ်၊ ဆွာဖ်ဝါန်၊ အဲ့ယာသ္ဓ်၊ အစ်ဗ်နို့မခ်ရမဟ်၊ ဝဟ်ဗ်အစ်ဗ်နို့စအ်ဒ်၊ အမ်ရ အစ်ဗ်နို့အဗီစရ်ဟ်၊ အို့မိုင်ရ်အစ်ဗ်နို့ အောက်ဖ် ... စသည့် သာဝကကြီးများသည် တမန်တော်မြတ် မဒီနာမြို့သို့ ကြွရောက်လာသည့်အချိန်အထိ အဆိုပါပုဂ္ဂိုလ်ကြီး၏အိမ်၌ပင် ဧည့်သည်အဖြစ် တည်းခိုလျက်ပင် ရှိခဲ့ကြသေး၏။

သာဝကကြီးအလီသခင်သည် မက္ကာမြို့မှ တမန်တော်မြတ် ထွက်တော်မူသွားပြီးသည့်နောက် သုံးရက်ရှိသောအခါ ထွက်ခွာလာခဲ့၏။ ထိုသာဝကကြီးသည်လည်း ရောက်ရှိလာပြီး ထိုပုဂ္ဂိုလ်ကြီး၏အိမ်၌ပင် တည်းခို၏။ တမန်တော်မြတ်သည် ထိုအရပ်၌ လေးရက်မျှသာ တည်းခိုတော်မူခဲ့သည်ဟူ၍ ရာဇဝင် သမိုင်း ဆရာများနှင့် တမန်တော်မြတ်၏ အတ္ထုပ္ပတ္တိရေးသော ပုဂ္ဂိုလ်အားလုံးတို့က ရေးသားကြ၏။ သို့ရာတွင် ဗိုခါရီကျမ်း၌ "တမန်တော်မြတ်သည် ထိုအရပ်၌ ၁၄-ရက်တိုင်တိုင် တည်းခိုတော်မူခဲ့သည်" ဟူ၍ ရေးသား ဖော်ပြထားသည်။ ဤသည် ယုတ္တိယုတ္တာလည်းရှိ၏။

ထိုအရပ်၌ တမန်တော်မြတ်၏ ပထမလုပ်ငန်းမှာ မတ်စ်ဂျစ်ဒ် ဗလီတည်ဆောက်တော်မူခြင်းပင် ဖြစ်သည်။ သာဝကကြီး ကုလ်ဆူမ်၏ မြေကွက်တခုရှိ၏။ ထိုမြေကွက်၌ စွန်ပလွံသီးအခြောက်လှန်းလေ့ရှိ၏။ တမန်တော်မြတ်သည် ထိုမြေကွက်၌ပင် မိမိ၏လက်တော်ဖြင့် ဗလီအုတ်မြစ်ကို ချတော်မူခဲ့လေသည်။ ထိုဗလီတော်၏အကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ်တွင် အောက်ပါအတိုင်း လာရှိ၏။

لَمَسْجِدٌ أُسِّسَ عَلَى التَّقْوٰى مِنْ أَوَّلِ يَوْمٍ أَحَقُّ أَنْ تَقُومَ فِيهِ
فِيهِ رِجَالٌ يُّحِبُّونَ أَنْ يَّتَطَهَّرُوْا وَاللّٰهُ يُحِبُّ الْمُطَّهِّرِيْنَ

မုချဧကန် အကြင် "မတ်စ်ဂျစ်ဒ်" ဗလီသည် ပထမနေ့မှစ၍ "တာ့က်ဝါ" (အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားခြင်း)အပေါ်၌ (စိတ်စေတနာ ဖြူစင်စွာ ဖြင့် တည်ဆောက်ခဲ့၏။ ထိုသို့သော ဗလီ၌ အသင် (ဝတ်ပြုရန်အတွက်) မတ်တတ်ရပ်ခြင်း သည် ပို၍သင့်မြတ်၏။ ထိုဗလီ၌ရှိကြသော ပုဂ္ဂိုလ်များသည် သန့်ပြန့်ခြင်းကို အထူးတလည် နှစ်သက်ကြ၏။ အလ္လာဟ်အရှင်မြတ်သည်လည်း အထူးတလည် သန့်ပြန့်သောသူများအား နှစ်သက်တော်မူ၏။ ကုရ်အာန် (၉း ၁၀၈) ➤➤

➤➤ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အဆိုပါဗလီကို တည်ဆောက်ရာတွင် အခြားတပည့်သားများနှင့်အတူ မိမိကိုယ်တိုင်လည်း ဝင်ရောက်၍ အလုပ်လုပ်တော်မူ၏။ လေးလံသော ကျောက်တုံးများကို သယ်ပိုး ယူဆောင်တော်မူသည့်အခါ ခန္ဓာကိုယ်သည် ညွတ်ကိုင်း၍ပင် သွားရှာတော်မူ၏။ တပည့်သာဝကများက "ကျွန်တော်များ၏ မိဘများသည် မိမိတို့၏ အသက်များကို တမန်တော်မြတ်အား စွန့်လှူကြသည် ဖြစ်ပါစေ။ တမန်တော်မြတ်သည် ကျောက်တုံးများကို သယ်ပိုးခြင်း ပြုတော်မမူပါလင့်၊ ကျွန်တော်များသာ သယ်ပိုးကြပါမည်" ဟု မေတ္တာရပ်ခံကြလေသည်။ တမန်တော်မြတ်က တပည့်သာဝကကြီးများ၏ မေတ္တာရပ်ခံချက်ကို လက်ခံတော်မူ၏။ သို့လက်ခံတော်မူပြီးသည့် နောက်တွင်လည်း တမန်တော်မြတ်သည် ယခင် သယ်ပိုးတော်မူသော ကျောက်တုံးများနှင့်ညီမျှသော အခြားကျောက်တုံးကို သယ်ပိုးတော်မူပြန်လေသည်။

ဆွဟာဗီသာဝကကြီး အဗ်ဒွလ္လာဟ် အစ်ဗ်နို ရဝါဟာဟ်သည် ကဗျာ လင်္ကာ ဆရာကြီးတပါးဖြစ်၏။ ထိုသာဝကကြီးသည်လည်း အဆိုပါ ဗလီတည်ဆောက်ရာတွင် အခြားလုပ်သားများနှင့်အတူပင် ဝင်ရောက်လုပ်ကိုင်၏။ လုပ်သားများသည် အလုပ်လုပ်ရာတွင် အမောအပန်းဖြေရန်အတွက် လင်္ကာများကို ဆိုကြသကဲ့သို့ အဆိုပါ သာဝကကြီးသည်လည်း အောက်ပါလင်္ကာကို ရွတ်ဆိုလေသည်။

အကြင်သူသည် ဗလီတည်ဆောက်၏။ ၎င်းပြင် ထိုသူသည် ကုရ်အာန်ကို ထိုင်လျက်
မတ်တက်ရပ်လျက်ဖတ်၏။ ၎င်းပြင် ထိုသူသည် ညအခါတွင် နိုးကြားလျက်နေ၏။
ထိုသူသည်ပင် အောင်မြင်၏။

"ကိုဗာ" သို့ တမန်တော်မြတ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်) ကြွရောက်လာတော်မူခဲ့ခြင်းသည် အစ္စလာမ်၏ ထူးခြားသောခေတ်၏ အစပင်ဖြစ်သည်။ ထို့အတွက်ကြောင့်ပင် ရာဇဝင်ဆရာများသည် ထိုနေ့ရက်များကို အထူးတလည်မှတ်သား၍ ထားခဲ့ကြ၏။ ကိုဗာသို့ တမန်တော်မြတ် ကြွရောက်တော်မူခဲ့သည့် နေ့ရက်မှာ၊ နဗဝီသက္ကရာဇ် (၁၃)ခုနှစ် ရဗီအုလ်အောင်ဝလ်လ (၈)ရက်နေ့၊ ခရစ်သက္ကရာဇ် (၆၂၂)ခုနှစ်၊ စက်တင်ဘာလ (၂၀)ရက်နေ့ဖြစ်သည်ဟူ၍ ရာဇဝင်ဆရာအများစုက တညီတညွတ်တည်းဆိုကြ၏။ ရာဇဝင်ဆရာကြီး (မုဟမ္မဒ် အစ်ဗ်နို မူစာခ၀ါရဇ်မ်)က အဆိုပါနေ့ရက်မှာ ကြာသပတေးနေ့၊ ဖာရေစီတီရ်လ (၄)ရက်။ (၉၂၃)ခု၊ ရောမလအီလူလ် (၁၀)ရက်နေ့ဖြစ်သည်ဟူ၍ ရေးသားဖော်ပြထားလေသည်။ ရာဇဝင်ဆရာကြီး ယအ်ကူဗ်သည် (Astronomer) နက္ခတ်တာရာအတတ်ပညာ ကျွမ်းကျင်သော ပုဂ္ဂိုလ်များအား မေးမြန်း၍ ဇယားကွက်ပြုလုပ်ထားသည်။

တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် "ကိုဗာ" တွင် (၁၄) ရက်ကြာရှိသောအခါ၊ သောကြာနေ့တွင် မဒီနာသို့ ကြွသွားတော်မူ၏။ လမ်းခရီးရှိ ဗနီစာလင်မ်မျိုးနွယ်စု၏ အရပ်၌ ဆွလာတ်ဝတ်ပြုရန် အချိန်ကျရောက်လာသဖြင့်၊ တမန်တော်မြတ်သည် ထိုအရပ်မှာပင် ဆွလာတုလ်ဂျုမ်မို့အဟ် သောကြာနေ့ ဆွလာတ်ဝတ်ပြုတော်မူလေသည်။

တမန်တော်မြတ်သည် ဆွလာတ် ဝတ်မပြုမီ အလျင် 'ခွတ္တဗဟ်' တရား ဒေသနာတော်ကို ဟောကြားတော်မူ၏။

တမန်တော်မြတ်အဖို့ ထို "ဆွလာတုလ်ဂျုမ်မို့အဟ်" သည် ပထမဦးဆုံးသော ဆွလာတ်တုလ်ဂျုမ်မို့အဟ်ဖြစ်၍ "ခွတ္တဗဟ်" သည်လည်း တမန်တော်မြတ်၏ ပထမဆုံးသော "ခွတ္တဗဟ်" ပင်ဖြစ်၏။

တမန်တော်မြတ် ကြွရောက်လာတော်မူသည့်အကြောင်းကို လူအများ ကြားသိကြသည့်အခါ လူများသည် ဝမ်းသာအားရ သောင်းသောင်းဖြဖြ ခရီးဦးကြိုပြုရန်အတွက် အဘက်ဘက်မှ ပြေး၍ ➤➤

➤➤ လာကြ၏။ တမန်တော်မြတ်၏ မိခင်၏အဘ ဘက်မှတော်စပ်သော ဆွေမျိုးများ ဖြစ်ကြသည့် ဗနူနဂျ်ဂျာရ် မျိုးနွယ်ဝင်များသည် လက်နက်များ ဆွဲကိုင်လျက် ထွက်လာကြ၏။

ကိုဗာမှ မဒီနာမြို့အထိ အသက်ကိုစွန့်လှူရန် အသင့်ရှိသော တပည့်သားတို့သည် တမန်တော်မြတ် ကြွလာတော်မူရာ လမ်းနှစ်ဘက်တွင် တန်းစီ၍ ခရီးဦးကြိုပြုလျက်ရှိကြ၏။ လမ်းခရီးတွင် အန်ဆွာရ် မျိုးနွယ်ဝင်များ၏ ရပ်ကွက်များရှိ မျိုးနွယ်စုအသီးသီးတို့သည် တမန်တော်မြတ်အတွက် ဥစ္စာပစ္စည်းပေးလှူရန် အသင့်ရှိကြောင်း၊ အသက်စွန့်လွှတ်ရန် အသင့်ရှိကြောင်း လာရောက်လျှောက်ထားကြ၏။

တမန်တော်မြတ်က ကျေးဇူးတင်ကြောင်း ပြန်လည်မိန့်ကြားတော်မူ၏။ ဆုမွန်ကောင်းတောင်း၍ ပေးတော်မူ၏။ မဒီနာမြို့သည် တဖြည်းဖြည်း နီးကပ်၍ လာလေ၏။ ထိုအခါ မြို့သူ မြို့သားများသည် အထူးပင် ဝမ်းမြောက်ဝမ်းသာ ဖြစ်ကြ၏။ အမျိုးသမီးများသည်ပင် အိမ်ခေါင်မိုးများပေါ်သို့ တက်၍ တမန်တော်မြတ်အား ဖူးမျှော်ကြ၏။

ဆွဟာဗီသာဝကကြီး အဗူအိုင်ယူဗ်(ရသွေ့ယလ္လာဟု တအာလာအန်ဟု)သခင်၏ အိမ်သည် (တမန်တော်မြတ် တည်ဆောက်တော်မူခဲ့သော) မတ်စ်ဂျစ်ဒ် နဗဝီ (ယခု)တည်ရှိနေရာအနီး၌ပင် ရှိခဲ့၏။ တမန်တော်မြတ်၏ အစီးအနင်းသည် ထိုနေရာသို့ ရောက်ရှိလာသောအခါ လူတိုင်းလူတိုင်းသည် တမန်တော်မြတ် အား မိမိ၏အိမ်၌ပင် တည်းခိုစေလိုကြ၏။ တမန်တော်မြတ်အား ဧည့်ခံခွင့်တည်းဟူသော ဂုဏ်ထူးကို သူသူငါငါ လိုလားကြ၏။ နောက်ဆုံးတွင် ဤပြဿနာကို မဲဖြင့်ဖြေရှင်းကြ၏။ ယင်းသို့ မဲနှိုက်ကြသည့်အခါ အဆိုပါ ဂုဏ်ထူးကို သာဝကကြီး အဗူအိုင်ယူဗ်သခင် ရရှိသွားခဲ့လေသည်။

သာဝကကြီး အဗူအိုင်ယူဗ်၏ နေအိမ်မှာ နှစ်ထပ်အိမ်ဖြစ်၏။ သာဝကကြီး အဗူအိုင်ယူဗ်က တမန်တော်မြတ်အား အပေါ်ထပ်တွင် နေထိုင်တော်မူရန် မေတ္တာရပ်၏။

သို့ရာတွင် တမန်တော်မြတ်သည် မိမိအား လာရောက်တွေ့ဆုံလိုသော သူများအဖို့ လွယ်ကူမှုရှိစေရန်အတွက် အောက်ထပ်မှာပင် နေထိုင်တော်မူရန် သဘောတူတော်မူလေသည်။ သာဝကကြီး အဗူအိုင်ယူဗ်သည် တမန်တော်မြတ်အတွက် နံနက်စာ၊ ညစာ ထမင်းဟင်းများကို နှစ်ကြိမ်ပို့ပေးလေ၏။ တမန်တော်မြတ် စားသုံးတော်မူပြီး ကြွင်းကျန်သော ထမင်းဟင်းများကို သာဝကကြီး အဗူအိုင်ယူဗ်နှင့် ၎င်း၏ဇနီးသည်တို့ စားသုံးကြ၏။ သာဝကကြီးအဗူအိုင်ယူဗ်သည် တမန်တော်မြတ် စားသုံးသည့်နေရာမှပင် 'ဗရကတ်" မင်္ဂလာရှိစေရန်အတွက် စားသုံးလေ့ရှိသည်။ ➤➤

انْفِرُوْا خِفَافًا وَّثِقَالًا وَّجَاهِدُوْا بِاَمْوَالِكُمْ وَاَنْفُسِكُمْ فِيْ سَبِيْلِ اللّٰهِ ۗ ذٰلِكُمْ خَيْرٌ لَّكُمْ اِنْ كُنْتُمْ تَعْلَمُوْنَ ﴿٤١﴾

၄၁။ အသင်တို့သည် *ပေါ့ပါးစွာ လည်းကောင်း၊ လေးလံစွာ လည်းကောင်း၊* [၁] (သန်စွမ်းသည်ဖြစ်စေ၊ မသန်စွမ်းသည်ဖြစ်စေ၊ ဝဖြိုးသည်ဖြစ်စေ၊ ပိန်ချုံးသည်ဖြစ်စေ၊ နုပျိုသည်ဖြစ်စေ၊ အိုမင်းသည်ဖြစ်စေ၊ ရွှင်လန်းသည်ဖြစ်စေ၊ ပျင်းရိသည်ဖြစ်စေ၊ ဥစ္စာပစ္စည်းကြွယ်ဝ ချမ်းသာသည်ဖြစ်စေ၊ ဆင်းရဲနွမ်းပါးသည်ဖြစ်စေ၊ ခရီးသွားရန် အစီးအနင်းရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ၊ အားလပ်ခွင့်ရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ) မိမိတို့အိမ်များမှ (စစ်ချီ) ထွက်ကြ၍

---

➤➤ တနေ့သော် အပေါ်ထပ်တွင် ရေအိုးကွဲသွား၏။ ရေများအောက်ထပ်သို့ ယိုဖိတ်၍ တမန်တော်မြတ်အား အနှောင့်အယှက်ဖြစ်မည်ကို သာဝကကြီးအဗူအိုင်ယူဗ်သည် စိုးရိမ်မိ၏။ အိမ်တွင်လည်း ကတ္တီပါစောင် တထည်သာလျှင်ရှိ၏။ သာဝကကြီးအဗူအိုင်ယူဗ်သည် ထိုစောင်ဖြင့်ပင် ရေများကိုသုတ်၍ ထားလိုက်လေသည်။

တမန်တော်မြတ်သည် သာဝကကြီး အဗူအိုင်ယူဗ်၏နေအိမ်၌ ခုနစ်လတိတိ နေထိုင်တော်မူခဲ့လေသည်။ ထိုအတောအတွင်းမှာပင် "မတ်စ်ဂျစ်ဒ်နဗဝီ တည်ဆောက်၍ ပြီးစီးခဲ့၏။ မတ်စ်ဂျစ်ဒ်နဗဝီ" ၏ အနီးတဝိုက်တွင် အခန်းများလည်း ပြုလုပ်ပြီးစီးခဲ့၏။ ထိုအခါ တမန်တော်မြတ်သည် ရွှေ့ပြောင်း နေထိုင်တော်မူခဲ့လေသည်။

တမန်တော်မြတ်သည် မဒီနာမြို့သို့ ရောက်ရှိလာတော်မူပြီးသည့်နောက် သာဝကကြီး ဇိုက်ဒ်နှင့် မိမိ၏ကျွန်ဖြစ်သူ အဗူရာဖစ်အ် ကို ကုလားအုတ်နှစ်ကောင်နှင့် 'ဒစ်ရ်ဟမ် ငွေ ၅၀၀-ပေးပြီး၊ မက္ကာမြို့တော်သို့ လွှတ်၍ သမီးတော်များနှင့် ကြင်ရာတော်အား ခေါ်ယူစေတော်မူ၏။ သာဝကကြီးအဗူဗတ်က်ရ်ကလည်း မိမိ၏သား အဗ်ဒွလ္လဟ်ထံသို့ ၎င်းသည် မိမိ၏ မိခင်၊ အစ်မနှင့် နမများကို ခေါ်ဆောင်လာရန် စာရေးလိုက်လေသည်။ တမန်တော်မြတ်သည် (ဆွလ္လလ္လာဟုအလိုက်ဟိဝစလ္လမ်)၏ သမီးတော်များအနက် ရို့ကိုင်ယဟ်သခင်မသည် ၎င်း၏ခင်ပွန်းဖြစ်သူ သာဝကကြီးအွတ်ဆ်မာန်နှင့်အတူ တကွ (Ethiopia) နိုင်ငံသို့ ရောက်ရှိနေခဲ့၏။ ဇိုင်နဗ်သခင်မအား ၎င်း၏ခင်ပွန်းဖြစ်သူက သွားခွင့်မပြုခဲ့ချေ။ ထို့အတွက်ကြောင့် သာဝကကြီးဇိုက်ဒ်သည် သမီးတော် ဖွာတွေ့မဟ်သခင်မ၊ သမီးတော် အွန်မ်မေ့ကုလ်ဆူမ်နှင့် ကြင်ရာတော် စောင်ဒဟ်သခင်မတို့ကိုသာလျှင် ခေါ်ဆောင်၍ လာခဲ့လေသည်။ အာအေ့ရှဟ်သခင်မသည် မိမိ၏အစ်ကိုနှင့်အတူ ရောက်ရှိလာခဲ့၏။

တမန်တော်မြတ်။ စာမျက်နှာ - ၁၇၈၊ ၁၈၁။

(၁) ခိဖာဖန်နှင့် ဆိကာလန် ဟူသောပုဒ်များ၏အနက်ကို မုဖတ်စ်စစ်ရ်များသည် အမျိုးမျိုး ဖွင့်ဆိုကြသည်။ အစ္စလာမ်၏ရန်သူများကို ခုခံကာကွယ် တိုက်ခိုက်ရန်အတွက် သက်ဆိုင်ရာ အစ္စလာမ်အစိုးရက တိုင်းသူပြည်သား အားလုံးတို့အား ဆင့်ဆို ကြေငြာလိုက်သည့်အခါ မွတ်စ်လင်မ်တမျိုးသားလုံးတို့သည် ပေါ့ပါးသည်ဖြစ်စေ၊ လေးလံသည်ဖြစ်စေ၊ သန်စွမ်းသည်ဖြစ်စေ၊ မသန်စွမ်းသည်ဖြစ်စေ၊ ဝဖြိုးသည်ဖြစ်စေ၊ ပိန်ချုံးသည်ဖြစ်စေ၊ နုပျိုသည်ဖြစ်စေ၊ အိုမင်းသည်ဖြစ်စေ၊ ရွှင်လန်းသည်ဖြစ်စေ၊ ပျင်းရိသည်ဖြစ်စေ၊ ဥစ္စာပစ္စည်းကြွယ်ဝသည်ဖြစ်စေ၊ ဆင်းရဲနွမ်းပါးသည်ဖြစ်စေ၊ ခရီးသွားလာရန်အစီးအနင်းရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ၊ အားလပ်ခွင့်ရှိသည် ➤➤

အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ မိမိတို့၏ ဥစ္စာပစ္စည်းများဖြင့်လည်းကောင်း၊ မိမိတို့၏အသက်ဇီဝိန်များဖြင့်လည်းကောင်း၊ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ကြလေကုန်။ ဤသည် အကယ်၍ အသင်တို့ သိတတ် ကြပါလျှင် အသင်တို့အဖို့ အကောင်းဆုံးပင် ဖြစ်ပေ သတည်း။

لَوْ كَانَ عَرَضًا قَرِيبًا
وَّسَفَرًا قَاصِدًا
لَّاتَّبَعُوكَ وَلَٰكِنْ
بَعُدَتْ عَلَيْهِمُ الشُّقَّةُ ۚ
وَسَيَحْلِفُونَ بِاللَّهِ
لَوِ اسْتَطَعْنَا لَخَرَجْنَا
مَعَكُمْ يُهْلِكُونَ
أَنفُسَهُمْ ۚ وَاللَّهُ يَعْلَمُ

၄၂။ အကယ်၍သာ ပစ္စည်းဥစ္စာ တစုံတရာကို ရုတ်တရက် လွယ်ကူစွာ ရရှိမည်ဖြစ်သည့်ပြင် (ခရီးသည်လည်း) မနီးမဝေး အလယ်အလတ် ခရီးပင်ဖြစ်ခဲ့မူ၊ ၎င်းတို့သည် အသင်၏နောက်သို့ အမှန်ပင် လိုက်ခဲ့ ကြမည်သာတည်း။ သို့ရာတွင် (ယခုသော်ကား) ၎င်းတို့(အမြင်)၌ ခရီးသည် ကမ်းလှမ်းဝေးကွာ၍ ရှိနေခဲ့ပေရာ ၎င်းတို့သည် အသင်၏ နောက်သို့ မလိုက်ပဲ နေရစ်ခဲ့ကြလေသည်။

ထိုမှတပါး မကြာမြင့်မီ ၎င်းတို့သည် (အသင်တို့ရှေ့ဝယ်) "အကယ်၍သာကျွန်ုပ်တို့သည် တတ်စွမ်းနိုင်ခဲ့ကြလျှင်အသင်တို့နှင့်အတူ ထွက်ခဲ့ကြမည် အမှန်ပင်"ဟု အလ္လာဟ်အရှင်မြတ်အားတိုင်တည်၍ ပြောဆိုကြဦးမည်ဖြစ်သည်။ ၎င်းတို့သည် မိမိတို့ကိုယ်ကိုသာ ဖျက်ဆီးလျက် ရှိကြပေသည်။ အမှန်စင်စစ်မှာမူကား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့မှုသာဝါဒီများ ဖြစ်ကြောင်းကို ကောင်းစွာသိရှိတော်မူပေသတည်း။ [၁]

➤➤ ဖြစ်စေ၊ မရှိသည်ဖြစ်စေ၊ အလုပ်ရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ၊ သတ္တိရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ၊ အိမ်သူအိမ်သားများ ရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ၊ မည်သည့် အခြေအနေ၌ပင် ရှိစေကာမူ အကြောင်းတစုံတရာ ပြသမနေပဲ စစ်ချီတက်ကြရမည်သာဖြစ်သည်။ ကြည်-အစ်ဗ်နုဂျရီရ်၊ အစ်ဗ်နုကဆီရ်၊

(၁) **<u>မှတ်သားဖွယ်</u>။**

ဤအာယတ်တော်တွင် စာလစ်က်ခေါ် သူတော်စင်များအဖို့ မိမိ၏ စိတ်စေတနာကို စမ်းသပ်ရန် နည်းလမ်းပါရှိသည်။ အကြင်ကိစ္စတရပ်တွင် လောကီအကျိုးကား အလျှင်းမရှိ၊ ဒုက္ခချည်းသာဖြစ်၏။ ➤➤

(တနည်း)

إِنَّهُمْ لَكَٰذِبُونَ ﴿٤٢﴾

အကယ်၍သာ အလွယ်တကူ ဥစ္စာပစ္စည်းတစုံတရာ ရရှိမည်ဖြစ်သော် သွားလာရမည့် ခရီးသည်လည်း သာမန်သာဖြစ်သော် ယင်း(မုနာဖစ်က်)တို့သည် ဧကန်မုချ အသင်နှင့်အတူတကွ လိုက်ခဲ့ကြမည်ဖြစ်သည်။ သို့ရာတွင် (ယခုမူ) ခရီးသည်၎င်းတို့(အမြင်)၌ ဝေးကွာကမ်းလှမ်း၍ နေချေ၏။ (ထို့အတွက်ကြောင့်ပင် ၎င်းတို့သည် စစ်ပွဲသို့ မလိုက်ပါပဲ နောက်တွင် ထိုင်နေခဲ့ကြ၏။)

မကြာမြင့်မီ (အသင် မွတ်စ်လင်မ်တို့ စစ်ပွဲမှ ပြန်လာကြသောအခါ) ယင်း(မုနာဖစ်က်)တို့သည် (အသင်တို့ရှေ့ဝယ် အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍) "အကယ်၍ ကျွန်ုပ်တို့သည် တတ်စွမ်းနိုင်ခဲ့ကြပါလျှင် အသင်တို့နှင့်အတူ မုချ ထွက်ခဲ့ကြမည်သာဖြစ်ပါသည်" ဟု ပြောဆိုကြဦးမည် ဖြစ်သည်။ ယင်း(မုနာဖစ်က်)များသည် မိမိတို့ကိုယ်ကိုသာ ဖျက်ဆီးလျက် ရှိကြကုန်၏။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် ယင်း(မုနာဖစ်က်)များမှုချဧကန် မုသားပြောဆိုသူများဖြစ်ကြသည်ကို ကောင်းစွာ သိရှိတော်မူသည်။

➤➤ ထိုသို့သောကိစ္စကို ဆောင်ရွက်ရာတွင် မိမိ၏ စိတ်သည် မည်သို့မည်ပုံရှိသည်ကို စဉ်းစားဆင်ခြင်ခြင်းပင်ဖြစ်သည်။ လောကီအကျိုးရှိသော ကိစ္စများကိုသာ ဆောင်ရွက်နေခြင်းသည် "အစ်ခ်လာဆ်" စိတ်စေတနာဖြူစင်ခြင်း၏ သက်သေလက္ခဏာမဟုတ်ပေ။ ဤကားထာနဝီသခင်၏ ဖွင့်ဆိုချက်တည်း။

မာဂိုဒီ။ အ-၂။ စ-၄၀၅။ အအ-၈၁။

عَفَا اللَّهُ عَنكَ لِمَ أَذِنتَ لَهُمْ حَتَّىٰ يَتَبَيَّنَ لَكَ الَّذِينَ صَدَقُوا وَتَعْلَمَ الْكَاذِبِينَ ﴿٤٣﴾

၄၃။ (အို - နဗီတမန်တော်) အလ္လာဟ်အရှင်မြတ်သည် အသင့်အား ခွင့်လွှတ်တော်မူခဲ့ချေပြီ။ (သို့ရာတွင်) အသင့်အဖို့ (ထိုသူတို့အနက်) မှန်ကန်စွာ ပြောဆိုသောသူတို့သည် ထင်ရှားခြင်း မရှိသေးမီလည်းကောင်း၊ (ထိုသူတို့အနက်မှ) မုသာဝါဒီများကို အသင် မသိသေးမီလည်းကောင်း၊ အသင်သည် မည်သည့်အတွက် ထိုသူတို့အား (စစ်ချီတက်ရာသို့ မလိုက်ပဲ နေရစ်ခဲ့ကြရန်) ခွင့်ပြုခဲ့ပါသနည်း။ ၁

---

(၁) မုနာဖစ်က်များသည် လိမ်လည်၍ မမှန်ကန်သော အကြောင်းပြကာ ၎င်းတို့အား မဒီနာမြို့၌ပင် နေရစ်ခဲ့ခွင့်ပြုရန် တမန်တော်မြတ်ထံ ပန်ကြားကြ၏။ တမန်တော်မြတ်သည်လည်း ၎င်းတို့၏ ပရိယာယ်နှင့် အယောင်ဆောင်မှုကို လျစ်လျူပြု၍လည်းကောင်း၊ ၎င်းတို့နှင့်အတူလိုက်ပါက အနှောင့်အယှက်မှအပ အခြားအကျိုး တစုံတရာမရှိမည်ကို မြော်မြင်၍လည်းကောင်း ခွင့်ပြုတော်မူလေ့ရှိသည်။

ဤသည့်အကြောင်းနှင့်စပ်လျဉ်း၍ ဤအာယတ်တော်တွင် "အကယ်၍ တမန်တော်မြတ် ခွင့်ပြုတော်မမူခဲ့လျှင် သာ၍ကောင်းသည်" ဟူ၍ မိန့်ဆိုထား တော်မူခြင်းဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ် ခွင့်ပြုတော်မမူခဲ့လျှင် ယင်းမုနာဖစ်က်များသည် စစ်ပွဲသို့ ၎င်းတို့ မလိုက်ပါ မဆင်နွှဲခြင်းအတွက် တစုံတရာ အကြောင်းမပြနိုင်ပဲ ၎င်းတို့၏ "နိဖာက်" သည် ထင်ရှားပေါ်လွင်၍ သွားပေမည်။ အလ္လာဟ်အရှင်မြတ်သည် ယင်းမုနာဖစ်က်များအား မည်သည့်နည်းနှင့်မျှ စစ်မြေပြင်သို့ သွားရောက်ဆင်နွှဲနိုင်စွမ်းကိုလည်း ပေးသနားတော်မူမည်မဟုတ်ပေ။ သို့ရာတွင် တမန်တော်မြတ်ကသာ ခွင့်ပြုတော်မမူခဲ့ပါက ၎င်းတို့၏ သရုပ်ဖြစ်ရပ်မှန်သည် ပေါ်လွင်ထင်ရှား၍ သွားပေမည်။

အမှန်စင်စစ် တမန်တော်မြတ်က ယင်းသို့ခွင့်ပြုတော်မူခဲ့ခြင်းမှာ အပြစ်တစုံတရာ မဟုတ်ပေ။ သို့ရာတွင် ခွင့်မပြုခြင်းသည် ဖြစ်ပေါ်နေသော အခြေအနေများအရ ပို၍ သင့်မြတ်သည်။ ယင်းသို့ ပို၍ သင့်မြတ်သော အချက်ကို တမန်တော်မြတ် မပြုလုပ်မိသည့်အတွက် ဤအာယတ်တော်တွင် တမန်တော်မြတ်အား (عَفَا اللَّهُ عَنكَ) ဟူ၍ စကားပလ္လင်ခံပြီး မိန့်ဆိုထားတော်မူခြင်းပင် ဖြစ်သည်။ အဖ်ဝ် ဟူသောပုဒ်သည် အပြစ်ရှိ၍ ခွင့်လွှတ်ရာ၌သာလျှင် သုံးနှုန်းသောစကားဖြစ်သည်ဟူ၍ မယူဆရာ။

အချို့သုတေသီ ပညာရှင်များက "ဤအာယတ်တော်၏အစ၌ (عَفَا اللَّهُ عَنكَ) ဟူသော ဝါကျကို ထည့်သွင်းသုံးနှုန်းထားတော်မူခြင်းမှာ ဆုပန်ခြင်း၊ လေးစားခြင်းသဘောဖြင့် သုံးနှုန်းထားတော်မူခြင်း ဖြစ်သည်။ အရဗီစာပေဝေါဟာရတွင် ဤသို့သော အသုံးအနှုန်း အများအပြားရှိသည်" ဟုဆိုကြသည်။ သို့ရာတွင် အတိတ်ခေတ် ပညာရှင်များ၏ယူဆချက်မှာ အထက်တွင် ကျွန်ုပ်ရေးသားဖော်ပြထားသည့် အတိုင်းပင် ဖြစ်သည်။ ဤသည့်အချက်ကို "အသင်သည် ၎င်းတို့အား အဘယ်ကြောင့် ခွင့်ပြုခဲ့သနည်း" ဟူသော ဝါကျကလည်း ထောက်ခံလျက်ရှိသည်။

لَا يَسْتَأْذِنُكَ الَّذِينَ يُؤْمِنُونَ بِاللَّهِ وَالْيَوْمِ الْآخِرِ أَن يُجَاهِدُوا بِأَمْوَالِهِمْ وَأَنفُسِهِمْ ۗ وَاللَّهُ عَلِيمٌ بِالْمُتَّقِينَ ﴿٤٤﴾

၄၄။ အလ္လာဟ် အရှင်မြတ်နှင့် နောက်ဆုံးနေ့ကို သက်ဝင်ယုံကြည်သောသူတို့ကား၊ မိမိတို့၏ ဥစ္စာပစ္စည်းများဖြင့်လည်းကောင်း၊ မိမိတို့၏ အသက်ဇီဝိန်များဖြင့်လည်းကောင်း၊ စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ခြင်းမှ ထိုင်နေကြရန် (မည်သည့်အခါ၌မျှ) အသင့်ထံ *ခွင့်ပန်ကြမည် မဟုတ်ပေ။* [၁] စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ပြစ်မှုဒုစရိုက်များမှ ကြဉ်ရှောင်ကြကုန်သော သူတော်စင်တို့အား ကောင်းစွာ သိရှိတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

إِنَّمَا يَسْتَأْذِنُكَ الَّذِينَ لَا يُؤْمِنُونَ بِاللَّهِ وَالْيَوْمِ الْآخِرِ وَارْتَابَتْ قُلُوبُهُمْ فَهُمْ فِي رَيْبِهِمْ يَتَرَدَّدُونَ ﴿٤٥﴾

၄၅။ အကြင်သူတို့သည်သာလျှင် အသင့်ထံ ခွင့်ပန်ကြကုန်၏။ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်ကိုလည်းကောင်း၊ နောက်ဆုံးနေ့ကိုလည်းကောင်း၊ မယုံကြည်ကြသည့်ပြင် ၎င်းတို့၏စိတ်နှလုံးများသည်လည်း (အစ္စလာမ်နှင့်စပ်လျဉ်း၍) ဒွိဟသံသယဖြစ်လျက် ရှိကြကုန်သည်။ သို့ဖြစ်ပေရာ ၎င်းတို့သည် မိမိတို့၏ ဒွိဟသံသယ၌ပင် တဝဲလည်လည်ဖြစ်လျက် ရှိကြကုန်သတည်း။

---

(၁) အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ "ဂျိဟာဒ်" ပြုလုပ်ခြင်းမှ မိမိတို့ကို ချန်လှပ်ထားရှိရန် သူ့ထက်ငါ တိုးဝှေ့၍ ခွင့်ပန်ခြင်းမှာ 'အီမာန်' နှင့် 'တက္ကဝါ' ရှိသော မုအ်မင်န်တို့၏ အလုပ်မဟုတ်ပေ။ မုအ်မင်န်တို့မှုကား အကယ်တန္တ ဂျိဟာဒ်ပြုလုပ်ရန် စစ်ပွဲသို့ လိုက်ပါဆင်နွှဲရန်အတွက် စစ်စားရိတ်၊ အစီးအနင်း စသည့် အသုံးအဆောင်များ မရရှိသည့်အတွက် စစ်ပွဲသို့မလိုက်ပါ မဆင်နွှဲနိုင်ပဲ ကျန်ရစ်နေခဲ့ကြရသော် ယင်းမုအ်မင်န်များသည် ဝမ်းနည်းကြေကွဲ၍ မျက်ရည်များပင် ကျကြပေသည်။ ကြည့်-ကုရ်အာန်(၉း၉၂) ဂျိဟာဒ်ပြုလုပ်ခြင်းမှ ခွင့်လွှတ်ရန် အရှက်ကင်းမဲ့စွာ ပန်ကြားကြသူများမှာကား အလ္လာဟ်အရှင်မြတ်၏ ကတိတော်များကို မယုံကြည်သောသူများ၊ နောင်တမလွန်ဘဝကို မယုံကြည်သူများနှင့် အလ္လာဟ်အရှင်မြတ်က အစ္စလာမ်နှင့် မွတ်စ်လင်မ်တို့အား အောင်နိုင်မှု ပေးတော်မူမည်ဟူ၍ ဟောကြားတော်မူသည့် ဗျာဒိတ်တော်များနှင့်စပ်လျဉ်း၍ ဒွိဟသံသယ ဖြစ်နေသူများသာ ဖြစ်ကြချေသည်။

وَلَوْ أَرَادُوا الْخُرُوجَ لَأَعَدُّوا لَهُ عُدَّةً وَلَٰكِن كَرِهَ اللَّهُ انبِعَاثَهُمْ فَثَبَّطَهُمْ وَقِيلَ اقْعُدُوا مَعَ الْقَاعِدِينَ ﴿٤٦﴾

၄၆။ စင်စစ်တမူကား အကယ်၍သာ ၎င်းတို့သည် (အသင်တို့နှင့်အတူ စစ်တလင်းသို့) ထွက်ကြရန် ရည်စူးခဲ့ကြပါလျှင်၊ မုချဧကန် ၎င်းတို့သည် ထွက်ရန် အလို့ငှာ တစုံတရာပြင်ဆင်မှု အသင့်ပြုလုပ် ထားရှိကြပေမည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ (စစ်တလင်းသို့ လိုက်ပါ)သွားခြင်းကို မနှစ်မြို့တော်မူခဲ့ချေ။ သို့ဖြစ်ပေရာထိုအရှင်မြတ်သည် ၎င်းတို့အား နေမြဲနေစေတော်မူခဲ့လေသည်။ ၎င်းပြင် (အလ္လာဟ် အရှင်မြတ်အထံတော်မှ ထိုသူတို့အား) "အသင်တို့သည် ကျန်ရစ်ခဲ့သောသူတို့နှင့်အတူ၊ ထိုင်၍ပင် ကျန်ရစ်ခဲ့ကြလေကုန်"ဟုအမိန့်ရှိခဲ့လေသတည်း။

لَوْ خَرَجُوا فِيكُم مَّا زَادُوكُمْ إِلَّا خَبَالًا وَلَأَوْضَعُوا خِلَالَكُمْ يَبْغُونَكُمُ الْفِتْنَةَ وَفِيكُمْ سَمَّاعُونَ لَهُمْ وَاللَّهُ عَلِيمٌ بِالظَّالِمِينَ ﴿٤٧﴾

၄၇။ အကယ်၍ ထိုသူတို့သည် အသင်တို့တွင် ပါဝင်၍ ထွက်ခဲ့ကြသည်ရှိသော် ၎င်းတို့သည် ပျက်စီးရာပျက်စီးကြောင်းမှ အပအသင်တို့၌ မည်သည့် တစုံတရာကိုမျှ *တိုးပွားစေခဲ့ကြမည် မဟုတ်ပေ။*[၁] ၎င်းပြင်ဧကန်မုချ ထိုသူတို့သည်အသင်တို့ အကြားတွင် အနှောင့်အယှက် ဖြစ်စေရန် လူးလာပြန်ခတ်သွားချေလာချေ ပြုလုပ်ကြမည်သာတည်း။ ထို့ပြင် (ယခုလည်း)အသင်တို့တွင် ၎င်းတို့၏သတင်းထောက်လှမ်းသူများ(သူလျှိုများ) ရှိကြကုန်၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် မတရားမှုပြုသောသူတို့အား ကောင်းစွာ သိရှိတော်မူပေသတည်း။

---

(၁) အကယ်၍ မုနာဖစ်က်များသည် မွတ်စ်လင်မ်များနှင့်အတူ စစ်ပွဲသို့ လိုက်ပါလာခဲ့ကြသည်ရှိသော် ၎င်းတို့သည် မိမိတို့၏ ရဲစွမ်းသတ္တိ မရှိမှု၊ သတ္တိကြောင်မှု၊ သူရဲဘောနည်းမှု (ဟန်ဆောင်မှု၊ စိတ်မပါမှု)များကြောင့် အခြားစစ်သည်များ၏ စိတ်ဓာတ်နှင့် ရဲစွမ်းသတ္တိကိုပင် ပျက်ပြားစေကြမည်။ အချင်းချင်း တို့မီးရှို့မီးလုပ်၍ သွေးဝမ်းခွဲကြမည်၊ မမှန်သတင်းလွှင့်ပြီး မွတ်စ်လင်မ်များတွင် ရန်သူများဘက်မှ စိုးရိမ်မှု၊ ထိတ်လန့်မှု၊ ကြောက်ရွံ့မှုများ ဖြစ်ပွားစေကြမည်။ ယင်းမုနာဖစ်က်များ စစ်ပွဲတွင်လိုက်ပါလာခြင်းဖြင့် မွတ်စ်လင်မ်များအဖို့ အမြတ်ကား အလျှင်းမရှိ၊ အရှုံးသာရှိမည်။ အနှောင့်အယှက်သာပိုမိုများပြားလာပေမည်။ အကျိုးကားအလျှင်းရှိမည်မဟုတ်ပေ။ ➢➢

لَقَدِ ابْتَغَوُا الْفِتْنَةَ مِنْ قَبْلُ وَقَلَّبُوا لَكَ الْأُمُورَ حَتَّىٰ جَاءَ الْحَقُّ وَظَهَرَ أَمْرُ اللَّهِ وَهُمْ كَارِهُونَ ﴿٤٨﴾

၄၈။ ဧကန်စင်စစ် ၎င်းတို့သည် ယခင်ကလည်း (အသင်တို့အား အပှာဒ် အစရှိသော စစ်ပွဲများတွင်) *အနှောင့်အယှက် ဖြစ်စေခဲ့ကြလေသည်။* [၁] ထို့ပြင် ၎င်းတို့သည် (အသင်၏အရေးကိစ္စများကို ကပြောင်းကပြန် ပြုလုပ်ခဲ့ကြလေသည်။) နောက်ဆုံးတွင်မူ ၎င်းတို့မနှစ်မြို့ကြသော်လည်း အမှန်တရားသည် ရောက်လာခဲ့လေသည်။ အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်သည်လည်း ထင်ရှားလာခဲ့လေသတည်း။

وَمِنْهُمْ مَنْ يَقُولُ ائْذَنْ لِي وَلَا تَفْتِنِّي ۚ أَلَا فِي الْفِتْنَةِ سَقَطُوا ۗ وَإِنَّ جَهَنَّمَ لَمُحِيطَةٌ بِالْكَافِرِينَ ﴿٤٩﴾

၄၉။ ၎င်းပြင် ထို(ကျန်ရစ်ခဲ့)သူ (မုနာဖစ်က်)တို့တွင် "ကျွန်ုပ်အား(စစ်တလင်းသို့ မလိုက်ပါပဲ အိမ်တွင်နေရစ်ခဲ့ရန်) ခွင့်ပေးပါ၊ ထို့ပြင် အသင်သည် ကျွန်ုပ်အား မဖျက်ဆီးပါနှင့်" ဟူ၍ *ပြောဆိုသူလည်း ရှိပေသေး၏။* [၂] ၎င်းတို့သည်ပျက်စီးမှု၌ ကျဆင်းခဲ့ပြီး ဖြစ်ကြသည်ကို (အသင်တို့သည်) ကောင်းစွာ မှတ်ယူကြလေကုန်။ ထိုမှတပါး (နောင်တမလွန်ဘဝတွင်လည်း) ဂျဟန္နမ်ငရဲဘုံသည် ၎င်းတို့အား ဝန်းရံလျက်ရှိချေအံ့သတည်း။

---

➢➢ ထို့အတွက်ကြောင့်လည်း အလ္လာဟ်အရှင်မြတ်သည် ယင်းမုနာဖစ်က်တို့အား စစ်ပွဲသို့ လိုက်ပါဆင်နွှဲနိုင်ခွင့် ပေးတော်မမူခြင်းဖြစ်သည်။

(၁) တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) မဒီနာမြို့သို့ ကြွရောက်လာတော်မူခဲ့သည့်အခါ ယဟူဒီများနှင့် မဒီနာမြို့ရှိ မုနာဖစ်က်များသည် တမန်တော်မြတ်အား အမျိုးမျိုး အနှောင့်အယှက် ပေးခဲ့ကြလေသည်။ နေ့စဉ်နှင့်အမျှ တိုးတက်နေသော အစ္စလာမ်၏ ကြီးပွားထွန်းကားမှုများကို ဟန့်တားရန်လည်း အမျိုးမျိုးအဖုံဖုံ ကပြောင်းကပြန် ပြုလုပ်ခဲ့ကြလေသည်။ သို့ရာတွင် ဗဒ်ရ်စစ်ပွဲ၌ ကာဖိရ်၊ မုရှ်ရစ်က်တို့၏ ထိပ်သီးခေါင်းဆောင်ကြီးများ သေကြေပျက်စီး၍ မွတ်စ်လင်မ်များ အံ့ဖွယ်သူရဲ အောင်နိုင်လိုက်ကြသည့်အခါ အဗ်ဒွလ္လာဟ် အစ်ဗ်နုအုဗိုင်ယ်နှင့် ၎င်း၏ အပေါင်းပါများက အစ္စလာမ်နှင့်စပ်လျဉ်း၍ "ဤသည် တိုးပွားလျက်သာ ရှိသည်၊ ရှေ့သို့သာ ချီတက်လျက်ရှိသည်၊ ရပ်တန့်တော့မည် မဟုတ်" ဟူ၍ပင် ဆိုကြလေသည်။ ထိုအခါ အချို့သူများသည် စိုးရိမ်ကြောင့်ကျကာ (စိတ်တွင်းမှမပါ) နှုတ်ဖြင့်သာ အစ္စလာမ်သာသနာကို လက်ခံထားကြပြီး စိတ်တွင်း၌ဝယ် "ကုဖ်ရ်"၊ "ရှစ်ရ်က်"ကို ဖုံးကွယ် ထားခဲ့ကြလေသည်။ ထို့အတွက်ကြောင့်ပင် ၎င်းတို့သည် အစ္စလာမ် သာသနာ တိုးတက် ကြီးပွားလာသည်နှင့် အမျှ မကျေမချမ်း ဖြစ်ကာ အံ့ကြိတ်၍ စိတ်တွင်း၌သာ ➢➢

إِنْ تُصِبْكَ حَسَنَةٌ تَسُؤْهُمْ وَإِنْ تُصِبْكَ مُصِيبَةٌ يَقُولُوا قَدْ أَخَذْنَا أَمْرَنَا مِنْ قَبْلُ وَيَتَوَلَّوْا وَهُمْ فَرِحُونَ ٥٠

၅၀။ အကယ်၍ အသင့်၌ ကောင်းမွန်သောအခြေအနေ တစုံတရာ ဆိုက်ရောက်သည်ရှိသော် ထိုကောင်းမွန်သော အခြေအနေသည် ၎င်းတို့အား ပူပင်သောက ဖြစ်စေ၏။ သို့ရာတွင် အကယ်၍ အသင့်၌ ဘေးအန္တရာယ် တစုံတရာ ဆိုက်ရောက်သည်ရှိမူ၊ ၎င်းတို့က "ဧကန်စင်စစ် ကျွန်ုပ်တို့သည် မိမိတို့၏ အရေးကိစ္စကိုယခင်ကပင်တင်ကူး၍ စီမံခဲ့ပြီးဖြစ်သည်" ဟု ပြောဆိုကာ ဝမ်းမြောက်ပျော်ရွှင်စွာ ပြန်လှည့်သွားလေ့ ရှိကြကုန်သတည်း။ ၁

---

➤➤ ဒေါသဖြစ်လျက် ရှိခဲ့ကြလေသည်။ ဆိုလိုသည်ကား ၎င်းတို့၏ အနှောင့်အယှက်သည် အသစ်အဆန်း မဟုတ်ပေ။ လုပ်ရိုးလုပ်စဉ် လုပ်ငန်းပင် ဖြစ်ချေသည်။ 'အုဟုဒ်' စစ်ပွဲဖြစ်စဉ်ကလည်း ယင်းမုနာဖစ်ကျ်များသည် ပထမသော် စစ်ပွဲသို့ လိုက်ပါလာပြီး လမ်းခုလပ်သို့ရောက်လတ်သော် သစ္စာဖောက်ကာ ပြန်လှည့်သွားခဲ့ကြလေသည်။ မုနာဖစ်ကျ်များသည် အသို့ပင် အနှောင့်အယှက်ပေးခဲ့ကြသော်လည်း အမှန်တရားသည် မည်သို့အောင်မြင်၍ အမှားသည် ရှုံးနိမ့်ပျက်ပြားသွားခဲ့သည်မှာ အထင်အရှားပင် ဖြစ်ချေသည်။

(၂) ဂျဒ္ဒအစ်ဗ်နုကိုက်စ် အမည်ရှိသော မုနာဖစ်ကျ်ကြီးတဦးက တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟုအလိုင်ဟိ ဝစလ္လမ်)အား "ကျွန်ုပ်ကို ဤတွင်ပင် နေရစ်ခွင့်ပြုပါ၊ အဘယ့်ကြောင့်ဆိုသော် ရောမတိုင်းပြည်ရှိ အမျိုးသမီးများသည် ရုပ်ရည်အလွန်ချောမောကြသည်၊ ထိုသို့သော အမျိုးသမီးများကို မြင်တွေ့ရလျှင် ကျွန်ုပ်သည် မိမိ၏စိတ်ကို ချုပ်တည်းထားနိုင်မည် မဟုတ်ပါ၊ ထို့အတွက် ကျွန်ုပ်အား ရောမပြည်သို့ ခေါ်ဆောင်သွားပြီး မဖျက်ဆီးပါနှင့်" ဟူ၍ ပြောဆိုခွင့်ပန်ခဲ့လေသည်။

အမှန်စင်စစ် ယင်းမုနာဖစ်ကျ်သည် သူတော်ကောင်းယောင်ဆောင်ကာ မိမိ၏ သတ္တိကြောင်မှုနှင့် ကုဖ်ရ်၊ နိဖာက်ကို ဖုံးကွယ်၍ မိမိကိုယ်ကို မိမိပင် ဖျက်ဆီးခဲ့လေပြီ၊ နောင်တမလွန်ဘဝတွင် လည်း မိမိ၏ ကုဖ်ရ်နှင့် နိဖာက်အတွက်ကြောင့်ပင် မုချမလွဲ ဂျဟန္နမ်ငရဲသို့ လားရဦးမည်ဖြစ်သည်။

အချို့ပညာရှင်များက ဤအာယတ်တော်သည် မုနာဖစ်ကျ်အားလုံးတို့နှင့် သက်ဆိုင်သည်၊ "ကျွန်ုပ်အား မဖျက်ဆီးပါနှင့်" ဟူသော ဝါကျ၏အလိုသဘောမှာ "ကျွန်ုပ်တို့အား ခေါ်ဆောင်သွားပြီးလျှင် ဥစ္စာပစ္စည်းစသည်များတွင် ဆုံးရှုံးနစ်နာအောင် မပြုပါနှင့်" ဟူ၍ဖြစ်သည်။ ဤသည့် ယူဆချက်ကို ("သတိပြုကြကုန်၊ ထိုသူများသည် ပျက်စီးခြင်း၌ ကျဆင်းခဲ့ပြီး ဖြစ်ကြကုန်၏")ဟူသော ဝါကျက ထောက်ခံလျက်ရှိသည်" ဟု ဆိုကြသည်။

(၁) မွတ်စ်လင်မ်များတွင် ကောင်းမွန်သော အခြေအနေတခု၊ ဥပမာ . . . အောင်နိုင်မှု တခုခု ဖြစ်ပေါ်လာလျှင် မုနာဖစ်ကျ်များသည် ပူပန်ကြ၏။ မကျေမချမ်း ဖြစ်ကြ၏။ အကယ်၍ မွတ်စ်လင်မ်များတွင် ဘေးအန္တရာယ် တစုံတရာ၊ ဥပမာ . . . ရှုံးနိမ့်မှု၊ ကျဆုံးမှု၊ အနာတရဖြစ်မှုများရှိလျှင် မုနာဖစ်ကျ်များသည် ဝမ်းသာကြကာ "ကျွန်ုပ်တို့သည် အမြော်အမြင်ရှိသည့်အတွက် ယခင်ကပင် ကြိုတင်၍ မိမိတို့ကိုယ်ကို ကာကွယ်ရန် ➤➤

قُلْ لَّنْ يُّصِيْبَنَآ اِلَّا مَا كَتَبَ اللّٰهُ لَنَا ۚ هُوَ مَوْلٰىنَا ۚ وَعَلَى اللّٰهِ فَلْيَتَوَكَّلِ الْمُؤْمِنُوْنَ ﴿٥١﴾

၅၁။ (အို–နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ အလ္လာဟ်အရှင်မြတ်က အကျွန်ုပ်တို့နှင့် ပတ်သက်၍ စီရင် ရေးသားတော်မူခဲ့သည့်မှအပ အခြားမည်သည့် တစုံတရာမျှ အကျွန်ုပ်တို့၌ အလျင်း ဆိုက်ရောက်နိုင်မည် မဟုတ်ပေ။ ထိုအရှင်မြတ်သည် အကျွန်ုပ်တို့၏ အရှင်သခင် ဖြစ်တော်မူသည်။ သို့ဖြစ်ပေရာ "မုအ်မင်န်" သက်ဝင်ယုံကြည်သောသူတို့သည် ထိုအရှင်မြတ်အပေါ်၌သာလျှင် ယုံကြည်စိတ်ချ လွှဲအပ်ကြရာကုန်သတည်း။ ၁

---

➤➤ စီမံခဲ့ကြသည်။ ဤသို့ ဘေးတွေ့မည်ကို ကျွန်ုပ်တို့မျှော်မြင်ခဲ့ကြသည်။ ထို့အတွက်ကြောင့်လည်း ထိုမွတ်စ်လင်မ်များနှင့်အတူ စစ်ပွဲသို့ မသွားခဲ့ခြင်းဖြစ်သည်" ဟုဆိုကာ မိမိတို့၏ ဆွေးနွေးပွဲများမှ မိမိတို့အိမ်များသို့ ပြန်သွားလေ့ရှိခဲ့ကြသည်။ ဤသည် မုနာဖစ်က်များ၏ အကျင့်ဆိုးတရပ်ပင်ဖြစ်သည်။

(၁) ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား ဖြေကြားစေတော်မူသည်မှာ . . .

အလ္လာဟ်အရှင်မြတ် စီရင်သတ်မှတ်ပြဋ္ဌာန်းတော်မူသော အရာဟူသမျှတို့သည် ဒုက္ခပင်ဖြစ်စေ၊ သုခပင်ဖြစ်စေ၊ သတ်မှတ်ထားတော်မူသည့်အချိန်တွင် ဧကန်မုချ သက်ရောက်မည်သာ ဖြစ်သည်။ မည်သူမျှ ရှောင်ကွင်းနိုင်သည် မရှိပေ။

မွတ်စ်လင်မ်များသည် အတွင်းအပြင် အဘက်ဘက်မှ "အလ္လာဟ်အရှင်မြတ်အား မိမိတို့၏အရှင်သခင်၊ မိမိတို့အား မွေးမြူဖန်ဆင်း ပြုစု ပျိုးထောင်ပေးတော်မူသောအရှင် အစစ်အမှန် ဖြစ်တော်မူသည်" ဟူ၍ လုံးဝယုံကြည်ထားကြပေရာ ထိုအရှင်မြတ် စီရင်တော်မူသည့် အမိန့်တော် အဆုံးအဖြတ်တော်များကို ခြွင်းချက်မရှိ ဦးထိပ်ထားကြလေသည်၊ နာခံကြလေသည်။ မည်သည့်ဒုက္ခ၊ မည်သည့်ခဲယဉ်းမှု၊ မည်သည့်ကျပ်တည်းမှုမျှ အမိန့်တော်နာခံခြင်းမှ မွတ်စ်လင်မ်တို့အား မတားဆီးနိုင်ပေ။

ထိုအရှင်မြတ်သည် ယာယီဖြစ်သော ဒုက္ခများကို နောင်တမလွန်ဘဝတွင် အမတသုခ ချမ်းသာမှုများဖြင့် မုချ ပြောင်း၍ပေးတော်မူမည် ဖြစ်သည်။ ဤပစ္စက္ခဘဝတွင်လည်း များသောအားဖြင့် သုခချမ်းသာမှုများဖြင့် ပြောင်းလဲပေးတော်မူမည်။ ဤသည်ကို မွတ်စ်လင်မ်များသည် အလ္လာဟ်အရှင်မြတ်အပေါ်၌ ယုံကြည်လွှဲအပ်ထားကြလေသည်။

(ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ် စီရင်တော်မူသည့်အတိုင်းသာ ဖြစ်မည်။ မုနာဖစ်က်တို့မျှော်လင့်တောင့်တသည့်အတိုင်း ဖြစ်မည်မဟုတ်ပေ။ မွတ်စ်လင်မ်တို့သည် အလ္လာဟ် အရှင်မြတ် စီရင်တော်မူသမျှကို မိမိတို့အတွက် ကောင်းသည်ဖြစ်စေ၊ မကောင်းသည်ဖြစ်စေ၊ ဦးထိပ်ထားကြသည်သာ ဖြစ်ပေသည်)။

၅၂။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ ဟယ်-(အချင်းတို့) အသင်တို့သည် အကျွန်ုပ်တို့နှင့်ပတ်သက်၍ ကောင်းမြတ်သော အကြောင်းအရာနှစ်ခုအနက် တခုမှတပါး အခြားတစုံတရာကို *စောင့်မျှော်၍နေကြသလော။* [၁] စင်စစ်သော်ကား အကျွန်ုပ်တို့သည် အသင်တို့နှင့် ပတ်သက်၍ အလ္လာဟ်အရှင်မြတ်သည် မိမိအထံတော်မှဖြစ်စေ၊ အကျွန်ုပ်တို့၏လက်များဖြင့်ဖြစ်စေ၊ အသင်တို့၌ ပြစ်ဒဏ်တစုံတရာကို သက်ရောက်စေတော်မူရန် စောင့်မျှော်လျက် ရှိကြပေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် စောင့်မျှော်၍ နေကြလေကုန်။ အကျွန်ုပ်တို့သည်လည်း(မိမိတို့အနေနှင့်) အသင်တို့နှင့် အတူ စောင့်မျှော်လျက်ပင် ရှိကြပေသည်။

قُلْ هَلْ تَرَبَّصُونَ بِنَآ إِلَّآ إِحْدَى ٱلْحُسْنَيَيْنِ ۖ وَنَحْنُ نَتَرَبَّصُ بِكُمْ أَن يُصِيبَكُمُ ٱللَّهُ بِعَذَابٍ مِّنْ عِندِهِۦٓ أَوْ بِأَيْدِينَا ۖ فَتَرَبَّصُوٓا۟ إِنَّا مَعَكُم مُّتَرَبِّصُونَ ﴿٥٢﴾

၅၃။ (အို-နဗီတမန်တော်) အသင်သည် (၎င်းမုနာဖစ်က်တို့အား ဤသို့)ပြောကြားပါဦးလေ။ အသင်တို့သည် သဒ္ဓါကြည်ဖြူစွာဖြစ်စေ၊ သို့တည်းမဟုတ် သဒ္ဓါကြည်ဖြူခြင်း မရှိပဲလျက်ဖြစ်စေ၊ ပေးကမ်းသုံးစွဲကြလေကုန်။ (သို့ရာတွင်) ထိုသုံးစွဲမှုသည် (အလ္လာဟ်အရှင်မြတ်ထံတော်၌) အသင်တို့ထံမှ *သဘောတူတော်မူခြင်းကိုအလျင်းခံရလိမ့်မည်မဟုတ်ပေ။* [၂] အကြောင်းသော်ကား အသင်တို့သည် (အမိန့်တော်ကို)သွေဖည်ငြင်းပယ်သောသူများ ဖြစ်ကြသောကြောင့်ပင်တည်း။

قُلْ أَنفِقُوا۟ طَوْعًا أَوْ كَرْهًا لَّن يُتَقَبَّلَ مِنكُمْ ۖ إِنَّكُمْ كُنتُمْ قَوْمًا فَٰسِقِينَ ﴿٥٣﴾

---

(၁) ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား ဖြေကြားစေတော်မူသည်မှာ . . . မုနာဖစ်က်များသည် မွတ်စ်လင်မ်များနှင့်ပတ်သက်၍ အကောင်းနှစ်ခုအနက် တခုခုဖြစ်မည်ကို မုချမျှော်လင့်နိုင်ကြပေသည်။ အဘယ့်ကြောင့်ဆိုသော် အကယ်၍ မွတ်စ်လင်မ်တဦးသည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ စစ်မြေပြင်တွင် ကျဆုံးသွားသည်ရှိသော် "ရှဟီးဒ်" ဖြစ်သည်၊ ဂျန္နတ်သို့ လားရမည်၊ ဤသည်လည်း အကောင်းပင်။ အကယ်၍ မွတ်စလင်မ်တဦးသည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်တွင် စစ်အောင်နိုင်၍ ပြန်လာခဲ့သည်ရှိသော် ဂါဇီဟာဒ်၏ ကုသိုလ်အကျိုးကိုရမည်၊ လက်ရ ➤➤

٥٤။ စင်စစ်သော်ကား ယင်း(မုနာဖစ်က်)တို့ထံမှ ၎င်းတို့၏ အလှူပစ္စည်းများကို သဘောတူလက်ခံတော်မူခြင်းမှ အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ ရစူလ်တမန်တော်အား ၎င်းတို့၏သွေဖည်ခြင်းမှအပါး အခြားမည်သည့်အရာကမျှ မြစ်တားခဲ့သည်မဟုတ်ပေ။ ထို့ပြင် ၎င်းတို့သည် ပျင်းရိစွာမှအပ ဆွလာတ်ဝတ်ပြုကြသည်လည်း မရှိချေ။ ထိုနည်းတူစွာ ၎င်းတို့သည် မနှစ်မြို့သော သူများအဖြစ်မှတပါး လှူဒါန်းသုံးစွဲကြသည်လည်း မရှိပေ။ ၁

وَمَا مَنَعَهُمْ أَنْ تُقْبَلَ مِنْهُمْ نَفَقَاتُهُمْ إِلَّا أَنَّهُمْ كَفَرُوا بِاللَّهِ وَبِرَسُولِهِ وَلَا يَأْتُونَ الصَّلَاةَ إِلَّا وَهُمْ كُسَالَىٰ وَلَا يُنْفِقُونَ إِلَّا وَهُمْ كَارِهُونَ ﴿٥٤﴾

---

➤➤ ပစ္စည်းလည်း ရဦးမည်။ ဤသည်လည်း အကောင်းပင်။ (တနည်းအားဖြင့် မွတ်စ်လင်မ်များအဖို့ သုခလည်း အကောင်းပင်ဖြစ်သည်၊ ဒုက္ခလည်း အကောင်းပင်ဖြစ်သည်)။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ ဩဝါဒတော်များတွင် အလ္လာဟ်အရှင်မြတ်သည် မုဂျာဟစ်ဒ်များနှင့် ပတ်သက်၍ တာဝန်အရပ်ရပ် ယူထားတော် မူသည့်အကြောင်း အမြောက်အမြား လာရှိပေသည်။

(၁) ဂျဒ္ဒအစ်ဗ်နိုကိုက်စ်က တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတော်တွင် ရောမပြည်၏ အမျိုးသမီးများကို အကြောင်းပြ၍ စစ်ပွဲသို့လိုက်ပါခြင်းမှ နေရစ်ခဲ့ရန် ခွင့်ပန်စဉ်က "ကျွန်ုပ်သည် စစ်ပွဲသို့ မိမိကိုယ်တိုင် မလိုက်ပါနိုင်ပါ၊ သို့ရာတွင် ဥစ္စာပစ္စည်းဖြင့် အကူအညီပေးနိုင်ပါသည်"ဟု လည်း ပြောဆိုခဲ့လေသည်။

ဤအာယတ်တော်တွင် ယင်းသို့ "အီမာန်" ယုံကြည်မှု မရှိပဲလျက် ထည့်ဝင်သောအလှူကို ကြည်ဖြူစွာ ထည့်ဝင်သည်ဖြစ်စေ၊ သဒ္ဓါကြည်ဖြူခြင်းမရှိပဲလျက် ထည့်ဝင်သည်ဖြစ်စေ၊ (မုနာဖစ်က်များသည် အသို့လျှင် သဒ္ဓါကြည်ဖြူစွာ အလှူထည့်ဝင်နိုင်ကြအံ့နည်း)၊ ၎င်းတို့သည် ကြည်ဖြူခြင်း မရှိပဲလျက် အလှူထည့်ဝင်ကြပေသည်။ ကြည့်-ကုရ်အာန်(၉း၅၄)။

အကယ်၍တန္ဒ ယင်းမုနာဖစ်က်များသည် ကြည်ဖြူစွာဖြင့်ပင် အလှူထည့်ဝင်ကြသည်ပင် ဖြစ်စေကာမူ) ၎င်းတို့တွင် "အီမာန်" ယုံကြည်မှု အလျင်းမရှိပေရာ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ အလှူကို အလျှင်း လက်ခံသဘောတူတော်မူမည်မဟုတ်ပေ။

(၁) မုနာဖစ်က်များ၏ အလှူပစ္စည်းများကို အလ္လာဟ်အရှင်မြတ် လက်ခံသဘောတူတော်မမူခြင်း၏ အဓိက အကြောင်းမှာ ၎င်းတို့၏ "ကုဖ်ရ်" သွေဖည်ငြင်းပယ်မှုသာလျှင် ဖြစ်သည်။ ကာဖိရ်များ၏ အပြုအမူဟူသမျှသည် "အီမာန်" ယုံကြည်မှု မပါရှိသည့်အတွက် အသက်မပါ အသေမျှသာဖြစ်ကြောင်း အထက်တွင် အကြိမ်ကြိမ် ရေးသားခဲ့ပေပြီ။ မုနာဖစ်က်များ၏ ပျင်းရိစွာဖြင့် ဆွလာတ်ဝတ်ပြုခြင်း၊ မနှစ်မြို့ပဲလျက် လှူဒါန်းခြင်းများသည် ၎င်းတို့၏အတွင်း၌ ဖုံးကွယ်ထားသည့် ကုဖ်ရ်၏ ပေါ်လွင်နေသော လက္ခဏာများပင် ဖြစ်ချေသည်။

فَلَا تُعْجِبْكَ أَمْوَالُهُمْ وَلَآ أَوْلَادُهُمْ ۚ إِنَّمَا يُرِيدُ ٱللَّهُ لِيُعَذِّبَهُم بِهَا فِى ٱلْحَيَوٰةِ ٱلدُّنْيَا وَتَزْهَقَ أَنفُسُهُمْ وَهُمْ كَٰفِرُونَ ﴿٥٥﴾

၅၅။ သို့ဖြစ်ပေရာ ထို(မုနာဖစ်က်)တို့၏ ဥစ္စာပစ္စည်းများသည်လည်းကောင်း၊ ထိုသူတို့၏သားသမီးများသည်လည်းကောင်း၊ *အသင့်အား* [၁] *အံ့အားမသင့်စေရ။* [၂] အလ္လာဟ်အရှင်မြတ်သည် ထိုဥစ္စာပစ္စည်းနှင့် သားသမီးတို့အားဖြင့် ထိုသူတို့အား ပစ္စုပ္ပန် လောကီဘဝတွင် ပြစ်ဒဏ်ပေးတော်မူရန်နှင့် ၎င်းတို့သည် ကာဖိရ် သွေဖည်ငြင်းပယ်သူများအဖြစ်နှင့် ၎င်းတို့၏ အသက်ဇီဝိန်များ ထွက်သွားရန်သာလျှင် ရည်စူးတော်မူလေသတည်း။

(၁) ဤအာယတ်တော်တွင် "အသင်" ဟူသည် အမြင်အားဖြင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အားသာ ရည်ညွှန်း မိန့်ဆိုထားတော်မူခြင်း ဖြစ်သည်ဟု ထင်မြင်ရသော်လည်း အလိုသဘောအားဖြင့်မူ မုအ်မင်န်အားလုံးတို့အား ရည်ညွှန်း မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။ ကဗီရ်။

(၂) အထက်တွင် မုနာဖစ်က်များ၏ ဆိုးသွမ်းမှုများနှင့် ၎င်းတို့၏ အလှူဒါနများကို အလ္လာဟ်အရှင်မြတ် အလျှင်း လက်ခံတော်မူမည် မဟုတ်ကြောင်းများ ပါရှိ၏။ မုနာဖစ်က်များသည် ယင်းသို့ ဖြစ်ကြပါလျက် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ဥစ္စာပစ္စည်းနှင့် သားသမီးများ အသို့လျှင် ချီးမြှင့်ထားတော်မူပါသနည်း၊ . . ဟု မေးဘွယ်ရာရှိသည်။ ဤအာယတ်တော်တွင် ဤသည့်အချက်ကိုပင် ဖြေကြားထားတော်မူသည်။

အမှန်မှာ ဤသည့်သားသမီးများနှင့် ဥစ္စာပစ္စည်းများသည်ပင်လျှင် ယင်းမုနာဖစ်က်များအတွက် ကြီးမားလှသော ပြစ်ဒဏ်တရပ် ဖြစ်နေပေသည်။ အမြိန့်အရသာနှင့် ပြည့်စုံသော အာဟာရသည် ကျန်းမာသူတဦးအား အင်အားတိုးပွားစေသော်လည်း မကျန်းမာသူတဦးအဖို့မှာ အဆိပ်အတောက်ဖြစ်လျက်ရှိ၏။ သေကြေပျက်စီး ဆုံးပါးစေနိုင်၏။ ဤနည်းအတိုင်းပင် ဤလောကီစည်းစိမ်များသည် ကာဖိရ်များအဖို့ ၎င်းတို့၏ အတွင်းစိတ်ဓာတ် ပျက်ပြားနေသည့်အလျောက် အဆိပ်အတောက် ဖြစ်လျက်ရှိ၏။ အဘယ်ကြောင့်ဆိုသော် ကာဖိရ်များသည် လောကီစည်းစိမ်များ၏ လောဘရမ္မက်တွင် နစ်မွန်းနေကြ၏။ ကာဖိရ်များသည် ဤလောကီစည်းစိမ်များကို ရှာဖွေဆည်းပူးရာတွင် ဦးစွာပထမ အကြီးအကျယ် ဒုက္ခဆင်းရဲ ခံခဲ့ကြရ၏။ ယင်းသို့ ဒုက္ခကြီးငယ်အမျိုးမျိုး ခံစားခဲ့ပြီး ရှာဖွေဆည်းပူးထားသော လောကီစည်းစိမ်များအနက် တစုံတရာ ပျက်စီးဆုံးပါးသွားလျှင် ထိုအရာပေါ်၌ လောဘရမ္မက် ထားခဲ့ကြသည်နှင့်အမျှ ကာဖိရ်များသည် ပူပင်ဒုက္ခ ဖြစ်ကြလေသည်။ ကာဖိရ်များသည် မိမိတို့၏ဥစ္စာပစ္စည်း၊ သားသမီးများနှင့်စပ်လျဉ်း၍ အချိန်မရွေး ပူပင်နေကြ၏။ ၎င်းတို့တွင် စိတ်ချမ်းသာမှုသည် အလျှင်းမရှိပေ။ ထို့ပြင်တဝ ယင်းကာဖိရ်များ မိမိတို့ချစ်မြတ်နိုးသော ဥစ္စာပစ္စည်း သားသမီးများကို ခွဲခွာ၍ သေကြေပျက်စီးကြသောအခါ ၎င်းတို့၏ ပူပင်သောကသည် အဘယ်မျှ ကြီးမားလာမည်ကို စဉ်းစား၍ပင် မရနိုင်ပေ။ အမှန်မှာ လောကီစည်းစိမ်တွင် နစ်မွန်းနေသူတဦးသည် မည်သည့်အခါ၌မျှ အစစ်အမှန်ဖြစ်သော စိတ်ချမ်းသာမှုကို အလျှင်း မရရှိနိုင်ပေ။ ဤသည့်အချက်ကို ဥရောပ၊ အမေရိကတိုက်သား ဥစ္စာပစ္စည်း ကုံလုံကြွယ်ဝသော သူဌေးကြီးများ၏ ဝန်ခံထုတ်ဖော်ပြောဆိုကြသော စကားများ ကလည်း ထောက်ခံလျက် ရှိပေသည်။



وَيَحْلِفُونَ بِاللَّهِ إِنَّهُمْ لَمِنكُمْ وَمَا هُم مِّنكُمْ وَلَٰكِنَّهُمْ قَوْمٌ يَفْرَقُونَ ﴿٥٦﴾

၅၆။ ထိုမှတပါး ယင်း(မုနာဖစ်က်)တို့သည် ဧကန်စင်စစ် အသင်တို့အနက်မှဖြစ်ကြသည်ဟူ၍ အလ္လာဟ်အရှင်မြတ်အားတိုင်တည်ကာ ကျိန်ဆိုကြလေသည်၊ အမှန်သော်ကား ၎င်းတို့သည် အသင်တို့အနက်မှ မဟုတ်ကြချေ။ သို့ရာတွင်၎င်းတို့သည် သူရဲဘောနည်း သတ္တိကြောင်သူများသာ ဖြစ်ကြကုန်သတည်း။

➤➤ မုအ်မင်န်များမှာကား ဤအရာတွင် ကာဖိရ်များကဲ့သို့မဟုတ်ပေ၊ မုအ်မင်န်များသည် ဥစ္စာပစ္စည်း သားသမီးများကို ကိုးကွယ်ရာလည်း မပြုလုပ်ကြပေ၊ မိမိတို့သက်တမ်း၏ အဓိကအချက်ဟူ၍လည်း မမှတ်ယူကြပေ။ မုအ်မင်န်များတွင် ကာဖိရ်များကဲ့သို့ လောကီစည်းစိမ်များ၏ လောဘရမ္မက်တည်းဟူသော ရောဂါလည်း မရှိပေ။ ထို့အတွက်ကြောင့်ပင် ဤသည့်လောကီစည်းစိမ်များသည် မုအ်မင်န်များအဖို့ သုခလည်းဖြစ်သည်၊ သာသနာရေးတွင် အကူအညီ အထောက်အမလည်းဖြစ်သည်။

ထို့ပြင်တဝ အချို့ကာဖိရ်များသည် မိမိတို့၏ ဥစ္စာပစ္စည်းနှင့် သားသမီး များပြားမှုကို အကြောင်းပြုပြီး မာန်မာနထောင်လွှားကာ သွေဖည်ငြင်းပယ်မှုတွင် သူတပါးတို့ထက်ပင် ပို၍ သောင်းကျန်းလာတတ်ကြသည်။ ထိုသို့သော ကာဖိရ်များအဖို့မှာကား သွေဖည်ငြင်းပယ်မှုသည်ပင် ၎င်းတို့ကာဖိရ်အဖြစ်နှင့် သေကြေပျက်စီးရန် အကြောင်းဖြစ်၍လာပေသည်။

ဤအာယတ်တော်သည် မဒီနာမြို့ရှိ မုနာဖစ်က်များနှင့်ပတ်သက်သည်။ ယင်းမုနာဖစ်က်များသည် စိတ်မကြည်ဖြူပဲလျက် ဂျိဟာဒ်အစရှိသည့် အစ္စလာမ်အရေးများတွင် ပြစားရန်အတွက် ဟန်ဆောင်ကာ အလူထည့်ဝင်ခဲ့ကြ၏။ ၎င်းတို့၏ သားသမီးများတွင် အချို့တို့သည် စိတ်စေတနာဖြူစင်စွာဖြင့် အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ပြီး တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့်အတူ စစ်ပွဲများတွင် ပါဝင်ဆင်နွှဲခဲ့ကြ၏။ ဤသည့်အချက်များသည် မုနာဖစ်က်တို့၏ မူရင်းစေတနာနှင့် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်လျက်ရှိကြ၏။ ဤသို့အားဖြင့် ယင်းမုနာဖစ်က်များ၏ ဥစ္စာပစ္စည်းနှင့် သားသမီးများသည် ၎င်းတို့အဖို့ သုခမဟုတ်၊ ဒုက္ခပင်ဖြစ်လျက် ရှိချေသည်။

① မုနာဖစ်က်များသည် အကယ်၍ မိမိတို့၏စိတ်တွင်း၌ ဖုံးကွယ်ထားသည့် "ကုဖ်ရ်" ကို ထုတ်ဖော်ပြောဆိုကြလျှင် ၎င်းတို့၏ ကာဖိရ်ဖြစ်မှုသည် ထင်ရှားသွားမည်။ ယင်းသို့ ထင်ရှားသွားလျှင် မွတ်စ်လင်မ်တို့သည် အခြားကာဖစ်များနှင့် ဆက်ဆံကြသကဲ့သို့ ၎င်းတို့နှင့်လည်း ဆက်ဆံကြမည်ကို စိုးရိမ်ကြသည်။ ယင်းသို့ စိုးရိမ်ကြသည့်အတွက် မွတ်စ်လင်မ်တို့အား 'ကျွန်ုပ်သည် အသင်တို့တွင် အပါအဝင်ဖြစ်ပါသည်' ဟု ကျိန်ဆို၍ ဟန်ဆောင်ပြောဆို၏။ အမှန်မှာ ဤသို့ ကျိန်ဆိုပြောဆိုခြင်းသည် လုံးဝ အမှားမျှသာဖြစ်သည်။ အကယ်၍ မုနာဖစ်က်တို့သည် တိမ်းရှောင်ရန်အတွက် ခိုကိုးရာဌာနတခု၊ သို့မဟုတ် ပုန်းအောင်းရန် လိုဏ်ဂူတခု၊ သို့မဟုတ် ယုတ်စွအဆုံး ဦးခေါင်းလျှိုရန် နေရာတခုရသော် အချုပ်အားဖြင့် အစ္စလာမ်အစိုးရဘက်မှ စိုးရိမ် ကြောင့်ကြမှုမရှိသော် ၎င်းတို့သည် ယခုထုတ်ဖော်ပြောဆိုနေကြသော စကားရပ်များကို လုံးဝစွန့်ပယ်၍ ခိုကိုးရာ နေရာသို့ တိမ်းရှောင်ထွက်ပြေး သွားကြမည်သာဖြစ်သည်။ ယခုမူ ယင်း မုနာဖစ်က်တို့၌ အစ္စလာမ် အစိုးရနှင့် ယှဉ်ပြိုင်နိုင်ရန် စွမ်းအားလည်း မရှိ၊ ထွက်ပြေး တိမ်းရှောင် ခိုကိုးရာလည်း မရှိ။ ထို့ အတွက်ကြောင့်ပင် ➤➤

لَوْ يَجِدُوْنَ مَلْجَاً اَوْ مَغٰرٰتٍ اَوْ مُدَّخَلًا لَّوَلَّوْا اِلَيْهِ وَهُمْ يَجْمَحُوْنَ ﴿٥٧﴾

၅၇။ အကယ်၍သာ ထို(မုနာဖစ်က်)တို့သည် ခိုကိုးရာနေရာ တခုခုကိုသော် လည်းကောင်း၊ ဥမင်လိုဏ်ခေါင်းများကိုသော် လည်းကောင်း၊ ဝင်ရောက်(ပုန်းအောင်း)ရန် နေရာတခုခုကိုသော်လည်းကောင်း၊ တွေ့ရှိကြပါလျှင် ၎င်းတို့သည် ထိုနေရာသို့ ဦးခေါင်းမော့ကာ တဟုန်တည်း တွန်းထိုးကာ ထွက်ပြေး(ဝင်ရောက် ပုန်းအောင်း)ကြမည်သာတည်း။

وَمِنْهُمْ مَّنْ يَّلْمِزُكَ فِى الصَّدَقٰتِ ۚ فَاِنْ اُعْطُوْا مِنْهَا رَضُوْا وَاِنْ لَّمْ يُعْطَوْا مِنْهَآ اِذَا هُمْ يَسْخَطُوْنَ ﴿٥٨﴾

၅၈။ ထို့ပြင် ယင်း(မုနာဖစ်က်)တို့တွင် အသင့်အား အလှူပစ္စည်းများနှင့်စပ်လျဉ်း၍ ကဲ့ရဲ့ပြစ်တင် ရှုတ်ချသူများလည်း ရှိကြသေး၏။ သို့ရာတွင် အကယ်၍ ထိုသူတို့သည် ယင်းအလှူပစ္စည်းများအနက်မှ (မိမိတို့စိတ်တိုင်းကျ) ရရှိခဲ့ကြလျှင် ထိုသူတို့သည် ကျေနပ်ကြလေသည်။ သို့ရာတွင် အကယ်၍ ၎င်းတို့သည် ထိုအလှူပစ္စည်းများအနက်မှ (မိမိတို့ စိတ်တိုင်းကျ) မရရှိခဲ့ကြပါလျှင် ရုတ်တရက် အမျက်ထွက်ကြလေသတည်း။ [၁]

---

➤➤ အထက်တွင် ဖော်ပြပါရှိသည့်အတိုင်း ကျိန်ဆိုပြီး မုသားစကားများကို လုပ်ကြံ ပြောဆို နေကြခြင်းသာဖြစ်သည်။ ဤကား သတ္တိကြောင်မှုပင်။

(၁) အချို့မုနာဖစ်က်များနှင့် အချို့ "ဗဒူ" အရဗ်ကျေးတောသားတို့သည် အလှူပစ္စည်းများ၊ လက်ရပစ္စည်းများ ခွဲဝေသည့်အချိန်တွင် လောဘရမ္မက်ကြီးမှု၊ ကိုယ်ကျိုးရှာမှုများကြောင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)နှင့်ပတ်သက်၍ တရားမျှတမှုကို စောင့်စည်းခြင်းမရှိဟု ကဲ့ရဲ့ပြစ်တင်ပြောဆိုခဲ့ကြ၏။ ၎င်းတို့ အလိုကျအတိုင်း မရရှိသည့်အချိန်အထိသာလျှင်ဖြစ်သည်။ အကယ်၍ ၎င်းတို့သည် မိမိတို့၏ အလိုကျရရှိကြလျှင် တမန်တော်မြတ်အား ကျေနပ်ကြသည်၊ အပြစ်မဆိုကြပေ။

တနည်းအားဖြင့် ၎င်းတို့သည် ဥစ္စာပစ္စည်းရရှိရေးကိုသာ အဓိက ပြုလုပ်ထားကြပေသည်။ ဤသည် 'ကျွန်ုပ်သည် မုအ်မင်န်တဦးဖြစ်ပါသည်' ဟု ပြောဆိုသူတဦး ထားရှိအပ်သော သဘောထား မျှော်မှန်းချက် လုပ်ငန်းစဉ် စေတနာ မဟုတ်ပေ။ မုအ်မင်န်တဦး ထားရှိအပ်သည့် သဘောထားကို ရှေ့လာလတ္တံ့သော အာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။

၅၉။ အမှန်သော်ကား အကယ်၍သာ ထိုသူတို့သည် မိမိတို့အား အလ္လာဟ်အရှင်မြတ်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်သည်လည်းကောင်း၊ ချီးမြှင့်ပေးသနားတော်မူသည်များအပေါ်၌ကျေနပ်ခဲ့ကြပြီး "ကျွန်ုပ်တို့အဖို့ *အလ္လာဟ်အရှင်မြတ်သည်ပင် လုံလောက်တော်မူပေသည်။* [၁] အလ္လာဟ်အရှင်မြတ်သည် မကြာမြင့်မီ ကျွန်ုပ်တို့အား မိမိကျေးဇူးတော်ဖြင့် ချီးမြှင့် ပေးသနားတော်မူအံ့။ ၎င်းပြင် ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်သည်လည်း (ကျွန်ုပ်တို့အား ထပ်မံ၍ပေးတော်မူဦးအံ့၊) "စကန်စင်စစ် ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်ဘက်သို့သာလျှင် တိမ်းယိမ်း ညွတ်ပြောင်းသူများဖြစ်ကြပါသည်" ဟုပြောဆိုခဲ့ကြပါလျှင် ကောင်းလေစွတကား။

وَلَوْ أَنَّهُمْ رَضُوا مَا آتَاهُمُ اللَّهُ وَرَسُولُهُ وَقَالُوا حَسْبُنَا اللَّهُ سَيُؤْتِينَا اللَّهُ مِنْ فَضْلِهِ وَرَسُولُهُ إِنَّا إِلَى اللَّهِ رَاغِبُونَ ﴿٥٩﴾

၆၀။ မုချစကန် ဇကာတ်သည် ဆင်းရဲနွမ်းပါးသူတို့အဖို့လည်းကောင်း၊ ပစ္စည်းမဲ့များအဖို့လည်းကောင်း၊ ဇကာတ်နှင့်စပ်လျဉ်းသော ကိစ္စအဝဝကို ဆောင်ရွက်သည့် အမှုထမ်းများအဖို့လည်းကောင်း၊ အစ္စလာမ်သာသနာတော်၏တရားများကို နှစ်သက်၍ သာသနာဘောင်တွင် ဝင်လိုသူများ၏စိတ်ကို နှစ်သိမ့်စေရန်

إِنَّمَا الصَّدَقَاتُ لِلْفُقَرَاءِ وَالْمَسَاكِينِ وَالْعَامِلِينَ عَلَيْهَا وَالْمُؤَلَّفَةِ قُلُوبُهُمْ وَفِي الرِّقَابِ

---

(၁) အကောင်းဆုံးလမ်းစဉ်မှာ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)မှတဆင့် အလ္လာဟ်အရှင်မြတ် ချီးမြှင့်ပေးသနားတော်မူသမျှအပေါ်၌ ကျေနပ်ရမည်။ ရောင့်ရဲတင်းတိမ်ရမည်။ အလ္လာဟ်အရှင်မြတ် အပေါ်၌သာလျှင် ယုံကြည်လွှဲအပ်ထားရမည်။ "အလ္လာဟ်အရှင်မြတ်သည် နောက်နောင်တွင်လည်း အလိုရှိပါက မိမိ၏ကျေးဇူးတော်ဖြင့် အမြောက်အမြား ပေးသနားတော်မူဦးမည်" ဟူ၍ မှတ်ယူထားရမည်။

အချုပ်မှာ … သဒ္ဓါရဖြစ်သော လောကီစည်းစိမ်များကို မိမိ၏ ရည်မှန်းချက်ပန်းတိုင်၊ အဓိကမပြုလုပ်ရ။ အလ္လာဟ် အရှင်မြတ်ထံသို့ ချဉ်းကပ်မှုနှင့် ထိုအရှင်မြတ်၏ နှစ်မြို့တော်မူခြင်းကိုသာ လိုလားတောင့်တရမည်။ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်ထံမှ ချီးမြှင့်ပေးသနားတော်မူခြင်း ခံရသမျှအပေါ်၌ ဝမ်းသာရမည်၊ ရောင့်ရဲတင်းတိမ်ရမည်သာဖြစ်သည်။

وَالْغٰرِمِيْنَ وَفِيْ سَبِيْلِ اللّٰهِ وَابْنِ السَّبِيْلِ ۭ فَرِيْضَةً مِّنَ اللّٰهِ ۭ وَاللّٰهُ عَلِيْمٌ حَكِيْمٌ ۝۶۰

အလို့ငှာလည်းကောင်း၊ ကျေးကျွန်များကို ကျွန်ဘဝမှ လွတ်မြောက်စေရန်လည်းကောင်း၊ မြီစားများအဖို့လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌လည်းကောင်း၊ (ဒုက္ခရောက်နေသော) ခရီးသည်များအဖို့လည်းကောင်း၊ *ဖြစ်သည်။* ၁

-ဤသည်ကား အလ္လာဟ် အရှင်မြတ်အထံတော်မှ ပြဋ္ဌာန်းထားတော်မူသော ပညတ်တော်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် အကြွင်းမဲ့သိတော်မူသောအရှင်၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူသတည်း။

---

(၁) အလ္လုပစ္စည်းများနှင့်စပ်လျဉ်း၍ အချို့က တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ကဲ့ရဲ့ပြစ်တင်ပြောဆိုခဲ့ကြသည့်အကြောင်း အထက်တွင် ပါရှိခဲ့၏။ ထို့အတွက် ဤအာယတ်တော်တွင် ယင်းအလ္လုပစ္စည်းများကို မည်သူမည်ဝါ မည်သည့်နေရာတွင် ခွဲဝေသုံးစွဲရမည့်အကြောင်း အတိအကျ ဖွင့်ဟမိန့်ဆိုထားတော်မူသည်။

'ဆွဒကာတ်' ဟူသောပုဒ်သည် 'ဆွဒကဟ်' ဟူသောပုဒ်၏ ဗဟုဝုစ်ကိန်းဖြစ်သည်။ ဤအာယတ်တော်တွင် 'ဆွဒကာတ်' ဟူသည် 'ဖရည်ွ' မလုပ်မနေရ တာဝန်တရပ်အဖြစ် သတ်မှတ် ပြဋ္ဌာန်းထားတော်မူသည့် 'ဇကာတ်' ကို ဆိုလိုသည်။

**ဇကာတ်စားသုံးပိုင်ခွင့်ရှိသူများ။**

ဤအာယတ်တော်တွင် ဇကာတ် စားသုံးပိုင်ခွင့်ရှိသူ (၈)ဦးတို့အား အတိအကျ ဖွင့်ဟ မိန့်ဆိုထားတော်မူသည်။ ယင်း(၈)ဦးတို့မှာ အောက်ပါအတိုင်းဖြစ်သည်။

(၁) ဖုကရာ။
(၂) မစာကီန်။
(၃) အာမိလီန အလတ်ဆွီဆွဒကာတ်။
(၄) မုအလ္လဖတုလ်ကုလူဗ်။
(၅) ရိကာဗ်။
(၆) ဃာရိမီန်။
(၇) ဖီစဗီလစ်လ္လာဟ်။
(၈) အစ်နုစ္စဗီလ်။

**(၁) ဖုကရာ။**

**(၂) မစာကီန်။**

"ဖုကရာ" ဟူသောပုဒ်သည် "ဖကီရ်" ဟူသောပုဒ်၏ ဗဟုဝုစ်ကိန်းဖြစ်သည်။ 'မစာကီန်' သည် 'မစ္စကီန်' ၏ဗဟုဝုစ်ကိန်း ဖြစ်သည်။ ဤပုဒ်နှစ်ပုဒ်ကို အနက်ဖွင့်ရာ၌ မုဖတ်စ်စစ်ရ်များသည် အဆိုများပြားလျက်ရှိကြသည်။ 'မုဟက္ကကီန်' သုတေသီများက 'ဖကီရ်' ဟူသည် တောင်းရမ်းမစားသော ပစ္စည်းမဲ့ သူဆင်းရဲကို ဆိုလိုသည်၊ 'မစ္စကီန်' ဟူသည် တောင်းရမ်းစားသော ပစ္စည်းမဲ့သူဆင်းရဲကို ဆိုလိုသည် . . .ဟု ဖွင့်ဆိုကြသည်။ ဤသည့်အနက်ဖွင့်ဆိုချက်ကို သာဝကကြီး အစ်ဗ်နုအဗ်ဗာစ်၊ ဟစန်ဗဆွရီ၊ ဂျာဗစ်ရ်၊ အစ်နုဇ်ဇိုက်ဒ်၊ မုဂျာဟစ်ဒ်၊ ဇိုဟ်ရီတို့ထံမှ လည်းသိရ၏။ အီမာမ်အဗူ ဟနီဖဟ်သခင်၏ အဆိုမှာလည်း ထိုအတိုင်းပင်ဖြစ်သည်။➤➤

➤➤ 'ဖကီရ်'၊ 'မစ္စကီန်' ဟူသောပုဒ်များနှင့် စပ်လျဉ်း၍ အနက်ဖွင့်ဆိုရာ၌ အဘယ်မျှပင် အဆိုများပြား သော်လည်း ယင်းအဆိုများပြားမှုသည် ဇကာတ်၏ အမိန့်ပညတ်တွင် အနှောင့်အယှက် မဖြစ်ချေ။ ဝဆီယတ် သေတမ်းစာတွင်ကား ပြဿနာပေါ်သည်၊ ဥပမာ – ပုဂ္ဂိုလ်တဦးသည် ဖကီရ်များအတွက် ဝဆီယတ် ပြုလုပ်ခဲ့သော် ယင်းဖကီရ်များတွင် မည်သူမည်ဝါတို့ အပါအဝင် ဖြစ်ကြသည်။ ထို့အတူ ပုဂ္ဂိုလ်တဦးသည် မစ္စကီန်များအတွက် ဝဆီယတ်ပြုလုပ်ခဲ့သော် ယင်းမစ္စကီန်များတွင် မည်သူမည်ဝါတို့ အပါအဝင်ဖြစ်ကြသည်- ဟူရာ၌ ပြဿနာပေါ်ပေသည်။ ဇကာတ်တွင် ဤပြဿနာ မပေါ်ပေ။

**(၃) အာမိလီန်အလတ်ဆွဲဆွဒကာတ်။**

'အာမိလီန် အလတ်ဆွဲဆွဒကာတ်' ဟူသည် ဤသည့်ဆွဒကာတ် အလှူပစ္စည်းများ ကောက်ခံရန် အတွက် ခန့်အပ်ထားသော အမှုထမ်းများကို ဆိုလိုသည်။ ၎င်းတို့အား လစာပေးရာတွင် ဇကာတ်ကို အသုံးပြုနိုင်သည်။

**(၄) မုအလ္လဖတုလ်ကုလူဗ်။**

'မုအလ္လဖတုလ်ကုလူဗ်' ဟူသည် မွတ်စ်လင်မ်မဟုတ်သော အကြင်ဘာသာခြားများကို ဆိုလိုသည်။ ၎င်းတို့သည် အစ္စလာမ်သာသနာတော်ကို ယုံကြည်လက်ခံလာကြမည်ဟု မျှော်လင့်ရ၏။ သို့မဟုတ် ၎င်းတို့၏ အနှောက်အယှက်မှ ကင်းဝေးရန် ရည်စူးခြင်းဖြစ်၏။ ထိုမှတပါး "မုအလ္လဖတုလ်ကုလူဗ်" ဟူသည် အကြင် မွတ်စ်လင်မ်များကိုလည်း ဆိုလိုသည်၊ ၎င်းတို့သည် အခြားအခြေအနေများအရ ဇကာတ် မစားသုံးပိုင်ကြသော်လည်း ၎င်းတို့အား ဥစ္စာပစ္စည်း အကူအညီပေးခြင်းအားဖြင့် ၎င်းတို့တွင် အစ္စလာမ်သာသနာကို ချစ်မြတ်နိုးမှု ပိုမို များပြားလာမည်ဟု မျှော်လင့်ရ၏။ အချုပ်အားဖြင့် 'မုအလ္လဖတုလ်ကုလူဗ်' ဟူသည် လူသားတို့အနက် အကြင်သို့သော အုပ်စုတိုင်းကို ဆိုလိုသည်။ ၎င်းတို့ဘက်မှ အစ္စလာမ်အစိုးရ၌ တစုံတခု စိုးရိမ်မှုသည် တနည်းနည်းဖြင့် ဖြစ်ပေါ်လျက်ရှိ၏။

"ဂျန်မ်ဟူရ်" ပညာရှင်သုခမိန်အများစုကြီး၏ အဆိုအရ ဤသည့် "မုအလ္လဖတုလ်ကုလူဗ်" တို့အား ဇကာတ်ခွဲဝေပေးရန် အမိန့်တော်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ လက်ထက်တော်နှင့်သာ သီးသန့်ဖြစ်သည်၊ 'ဆွဟာဗဟ်သာဝကကြီးများ' ၏လက်ထက်တွင် ယင်းမုအလ္လဖတုလ်ကုလူဗ်တို့အား ဇကာတ်ပေးပိုင်ခွင့် မရှိတော့ကြောင်းနှင့်စပ်လျဉ်း၍ "အစ်ဂျမာအ်" တညီတညွတ်တည်း အဆုံးအဖြတ် ရှိခဲ့ချေပြီ။ ဤသည် ယခင်အမိန့်တော် ရပ်ဆိုင်းထားပြီးဖြစ်ခြင်း၏ နမိတ်လက္ခဏာပင်ဖြစ်သည်။"

(ကြည့်-ထာနဝီ)။

သို့ရာတွင် အချို့ အာလင်မ်ပညာရှင်များက ဆွဟာဗဟ်သာဝကကြီးများ၏ 'တအာမုလ်' အမြဲတစေ အပြုအမူဖြင့် ဤအမိန့်တော်သည် 'မန်ဆူခ်' လုံးဝ ရပ်ဆိုင်းသွားပြီ မဟုတ်ချေ။ သာဝကကြီးများ လက်ထက်တွင် အခြေအနေအရ မလိုအပ်သည့် အတွက်ကြောင့်သော်လည်းကောင်း၊ ရောင့်ရဲတင်းတိမ်မှု ရှိနေသည့်အတွက် ကြောင့်သော်လည်းကောင်း၊ ဤအမိန့်တော်ကို ခေတ္တယာယီ ရပ်ဆိုင်းထားခဲ့ခြင်းသာဖြစ်သည်ဟု ဆိုကြလေသည်။

ဤသည့်အကြောင်းနှင့်စပ်လျဉ်း၍ အာလင်မ် သုခမိန်ကြီး မောင်လာနာဂီလာနီသခင်၏ သုတေသန ပြုချက်မှာ အောက်ပါအတိုင်းဖြစ်သည်။

ဇကာတ်ခွဲဝေသုံးစွဲရမည့် ဌာနများတွင် အကြင်သူများအတွက်လည်း ဌာနတခု အပါအဝင်ဖြစ်သည်။ ၎င်းတို့သည် ဥစ္စာပစ္စည်း ချို့တဲ့မှုကြောင့် အစ္စလာမ် အစိုးရနှင့် အစ္စလာမ်သာသနာကို ဆန့်ကျင်နေကြသည်။

ယခုခေတ်တွင် အချို့လူရှုပ်လူပွေများ၏ အုပ်စုတခု၏ အဖြစ်မှာလည်း ဤ အတိုင်းပင် ဖြစ်သည်။ ၎င်းတို့အား နှုတ်ပိတ်ရန် အတွက်လည်း ဆွဒကာတ်ကို ခွဲဝေ သုံးစွဲရမည့် ဌာနများတွင် ➤➤

➤➤ 'မုအလ္လဖတုလ်ကုလူဗ်'၏ ဌာနတရပ်ကို ကုရ်အာန်ကျမ်းမြတ်တွင် သတ်မှတ်ထားတော်မူသည်။

များသောအားဖြင့် 'ဖုတဟာ' ဓမ္မသတ်ရှင်များက 'ဤဌာနသည် အစ္စလာမ်သာသနာ ထွန်းကားခါစ အချိန်ပိုင်းအတွက်သာ သီးသန့်ဖြစ်သည်၊ ယခု ဤဌာနသည် ပြုတ်သွားချေပြီ' ဟု ဆိုကြသည်။ သာဓကတွင် . . . သာဝကကြီး အုမရ်(ရဿေ့ယလ္လာဟု တအာလာအန်ဟု)သခင်နှင့် ပတ်သက်သည့် ကျမ်းချက်ကို တင်ပြကြသည်။ ထိုကျမ်းချက်တွင် ပါရှိသည်မှာ သာဝကကြီး အုမရ်သခင်သည် 'မုအလ္လဖတုလ်ကုလူဗ်' တို့အနက် အချို့ကို (ဇကာတ်) ခွဲဝေပေးခြင်းမှ ငြင်းပယ်ခဲ့သည့်အကြောင်းမှာ ယခု အစ္စလာမ်သာသနာသည် အင်အားကြီးမားလာပြီဖြစ်၍ မုအလ္လဖတုလ်ကုလူဗ်တို့၏ စိတ်နှလုံးများကို နှစ်သိမ့်စေရန် မလိုတော့ခြင်းကြောင့်ပင် ဖြစ်သည်။ သာဝကကြီး အုမရ်သခင်သည် အချို့သူများကို 'အလ္လာဟ်အရှင်မြတ်သည် အစ္စလာမ်သာသနာကို ဂုဏ်အင်ဒြပ် အရှိန်အဝါ ချီးမြှင့်တော်မူလိုက်ပြီ' သို့ဖြစ်ရာ အသင်တို့နှစ်ဦး ပြန်ကြ၊ (တစုံတရာရရှိမည် မဟုတ်)ဟု ပြောဆိုကာ ဇကာတ်ပေးခြင်းမှ ငြင်းပယ်ခဲ့ခြင်းဖြစ်သည်။ အဖြစ်အပျက်ကျမ်းချက်မှာ ဤမျှသာ ဖြစ်သည်။ သို့ပါလျက် ဤသည့်ဖြစ်ရပ်ကို အကြောင်းပြု၍ သာဝကကြီး 'အုမရ်သည် လူတိုင်းအဖို့ ဤသည့်ဌာနကို ဖြုတ်ပစ်လိုက်ပြီ' ဟူ၍ ယူဆခြင်းကို ကျွန်ုပ်မည်သို့မျှ နားမလည်နိုင်ပါ၊ ကုရ်အာန်ကျမ်းမြတ်တွင် အတည့်အလင်း သတ်မှတ်ပြဋ္ဌာန်းထားတော်မူသည့် ဌာနတခုကို ပထမသော် သာဝကကြီးအုမရ်သခင်သည် အသို့လျှင် 'မန်စူခ်' ပလပ်နိုင်သနည်း။ ထို့ပြင်တဝ ဤသို့သော 'ခဗရေ့ဝါဟစ်ဒ်' ဖြင့် ကုရ်အာန်ကျမ်းလာဥပဒေတရပ်ကို 'မန်စူခ်' ပလပ်ခြင်းလည်း မပြုနိုင်ပေ။ ထင်ရှားနေသည့် အမှန်သဘောမှာ ဤသည် အီမာမ် အစ္စလာမ်ခေါင်းဆောင်နှင့် အစ္စလာမ်အစိုးရ၏ မှန်ကန်သောအမြင်ပေါ်၌ တည်ရှိပေသည်။ အဘယ်အခါမဆို အကြင်သူများအား ပေးသင့် ပေးအပ် ပေးထိုက်သည်ဟု ထင်မြင်ယူဆပါက ၎င်းတို့အား ပေးနိုင်ပေသည်။ မပေးသင့် မပေးအပ်၊ မပေးထိုက်ဟု ယူဆပါက မပေးရန်ပင် ဖြစ်သည်။ မောင်လာနာ မနာဇွစ်ရ် အဟ်စန် ဂီလာနီ၏ အစ္စလာမီ မအာရှိယာဟ်။

## (၅) ရိကာဗ်။

'ရိကာဗ်'သည် 'ရကဗဟ်'၏ ဗဟုဝုစ်ကိန်းဖြစ်သည်။ အဘိဓာန်၏အဓိပ္ပါယ်မှာ 'လည်ကုပ်' ဟူ၍ ဖြစ်သည်။ စာပေဝေါဟာရတွင် လည်ကုပ်ခွစီးခြင်း ခံနေရသော၊ သူတပါး၏ လက်တွင်း၌ ကျွန်ဖြစ်နေရသော ကျေးကျွန်ကို ဆိုလိုသည်။

'ရိကာဗ်' ဟူသည် ကျေးကျွန်များအား ကျွန်အဖြစ်မှ လွတ်မြောက်စေခြင်းကို ဆိုလိုသည်။ ကျွန်အဖြစ်မှ လွတ်မြောက်စေခြင်း၏အလိုမှာ ကျွန်တယောက်ကို ၎င်း၏သခင်က "အသင် ကျွန်ုပ်အား ဤရွေ့ဤမျှ ငွေပေးလျှင် အသင်သည် ကျွန်အဖြစ်မှ လွတ်မြောက်ပြီ" ဟု ပြောဆိုခြင်း ခံရသော ကျွန်ကို ဆိုလို၏။ သို့ဖြစ်လျှင် ဤသို့သော ကျွန်ကို ၎င်းသည် မိမိသခင်အား ငွေပေးဆပ်၍ ကျွန်အဖြစ်မှ လွတ်မြောက် နိုင်ရန်အတွက် ဇကာတ်ပေးပိုင်သည်။

## (၆) ဃာရိမီန်။

'ဃာရိမီန်' ဟူသည် ဒုက္ခကြီးငယ်ဖြစ်၍ ကြွေးမြီတင်ရှိနေသော မြီစားများကို ဆိုလိုသည်။ ၎င်းတို့အားလည်း ဇကာတ်ပေးနိုင်သည်။ ဥပမာ–အကြင်သူတဦး၌ ငွေတသောင်း ရှိအံ့၊ သို့ရာတွင် ထိုသူ့အပေါ် သူတပါးအား ပေးဆပ်ရန် ငွေတသောင်း ကြွေးတင်လျက်နေအံ့။ ဤသို့သောသူကိုလည်း ဇကာတ်ပေးပိုင်သည်။

ကြည့်–ထာနဝီ။

ကြွေးမြီတင်ရှိနေသောသူများအား အခြားပစ္စည်းမဲ့ ဆင်းရဲသားများကဲ့သို့ တောင့်တကြောင့်ကြ နေရသူများဖြစ်သည်ဟု ယူဆကာ ၎င်းတို့အား သနားကြင်နာ ကူညီထောက်ပံ့ရန် သင်ခန်းစာ ➤➤

➢➢ ပေးခြင်းသည် အစ္စလာမ်သာသနာ၏ ထူးခြားချက်တရပ်ပင်ဖြစ်သည်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ မောင်လာနာ မူနာဇွစ်ရ်အဟ်စန်ဂီလာနီက အောက်ပါအတိုင်း ရေးသားထားသည်။

**(၇) ဖီစဗီလစ်လ္လာဟ်။**

'အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌' ဟူသည်ကို ထိုအရှင်မြတ်၏လမ်းတော်၌ ဂျိဟာဒ် ပြုလုပ်ကြကုန်သော မုဂျာဟစ်ဒ်များအား ကူညီထောက်ပံ့ခြင်းကို ဆိုလိုသည်။ မုဂျာဟစ်ဒ်တဦးသည် လမ်းခရီး၌ ဒုက္ခရောက်သော် ထိုသို့သော မုဂျာဟစ်ဒ်အား ဇကာတ်ပေးပိုင်သည်။

အချို့က လမ်းခရီးတွင် စရိတ်ပြတ်နေသော ဟာဂျီများသည်လည်း 'ဖီစဗီလစ်လ္လာဟ်' တွင် အကျုံးဝင်ကြသည်ဟု ဆိုကြသည်။ အချို့က အစ္စလာမ်သာသနာရေးဆိုင်ရာ ပညာရပ်များကို သင်ကြားဆည်းပူး နေကြကုန်သော ပညာတော်သင်များသည်လည်း 'ဖီစဗီလစ်လ္လာဟ်'တွင် အကျုံးဝင်ကြသည်ဟု ဆိုကြသည်။

အချို့ "ဖုကဟာ" ဓမ္မသတ်ပညာရှင်များက "ဖီစဗီလစ်လ္လာဟ်" တွင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို လိုက်နာကျင့်သုံးရာ၌ တနည်းနည်း တဖုံဖုံ ကြိုးပမ်းအားထုတ်ကြကုန်သော ပုဂ္ဂိုလ်အားလုံး အကျုံးဝင်သည်ဟု ဆို၍ 'ဖီစဗီလစ်လ္လာဟ်' ၏ အနက်သဘောကို အထူးကျယ်ပြန့်စေခဲ့ကြသည်။

**(၈) အစ်ဗ်နွတ်စ္စဗီလ်။**

"အစ်ဗ်နွတ်စ္စဗီလ်"၏ အဘိဓာန်အဓိပ္ပါယ်မှာ "လမ်း၏သား" ဟူ၍ဖြစ်သည်။ ဝေါဟာရတွင် ခရီးသည်ကို ဆိုလိုသည်။ အလိုသဘောမှာ အကြင်သူတဦးသည် မိမိ၏နေရင်းဌာနတွင် ဥစ္စာပစ္စည်း ရှိလင့်ကစား အရပ်တပါးသို့ ရောက်ရှိပြီး ခရီးစရိတ်ပြတ်နေသော ခရီးသည်ကိုလည်း ဇကာတ်ပေးနိုင်သည်' ဟူ၍ဖြစ်သည်။

**ပြဿနာများ။**

ဇကာတ်ခွဲဝေပေးခြင်းခံရသော ပုဂ္ဂိုလ်များသည် မွတ်စ်လင်မ်များဖြစ်ကြရမည်၊ မရှိမဖြစ်သော အသုံးအဆောင်များ ပြည့်စုံ၍ "နိဆွာဗ်" (ဇကာတ်ပေးရန် သတ်မှတ်ထားသည့်) ဥစ္စာပစ္စည်း အချိုးအစားကို ပိုင်ဆိုင်သူများ မဖြစ်ကြရ။ ဤစည်းကမ်းချက်သည် ဇကာတ်ခွဲဝေပေးခြင်းခံရသူ အားလုံးနှင့် သက်ဆိုင်ပေသည်။ သို့ရာတွင် အစ္စလာမ်အစိုးရက ဇကာတ်အလှူပစ္စည်းများ ကောက်ခံရန်အတွက် ခန့်အပ်ထားသော အမှုထမ်းများအား ၎င်းတို့သည် ကုံလုံကြွယ်ဝသောသူများ ဖြစ်နေကြလင့်ကစား အခကြေးငွေအဖြစ် ဇကာတ်ထဲမှ ပေးနိုင်သည်၊ ထို့ပြင်တဝ ဇကာတ်ခွဲဝေပေးခြင်းခံရသူ အားလုံးတို့သည် "ဗနီဟာရှင်မ်" ဟာရှင်မ်၏ အမျိုးအနွယ်ဝင်များ မဖြစ်ကြရ။ ဇကာတ်ပေးရာတွင် ပေးသောပစ္စည်းများကို အပေးခံရသူအား "တမ်လီက်" အပိုင်ပေးရမည်၊ အပိုင်မပေးပါက ဇကာတ်ပေးခြင်း အထမြောက်မည်မဟုတ်ပေ။ (ဇကာတ်ပစ္စည်းဖြင့် "မတ်စ်ဂျစ်ဒ်" ဗလီ မတည်ဆောက်ပိုင်။ သူသေအတွက် ကဖန်ပိတ်မဝယ်ပိုင်။ သူသေတဦး၏ ကြွေးမြီမဆပ်ပိုင်။ ကုံလုံကြွယ်ဝသူ တဦးကို မပေးပိုင်၊ ဇကာတ်ပေးသူတဦးသည် မိမိ၏ဇကာတ်ကို မိမိ၏အဘ၊ အဘိုး . . . စသည်တို့အား မပေးပိုင်၊ မိမိ၏သားမြေး စသည်တို့အားလည်း မပေးပိုင်။ လင်ယောကျ်ားသည် မိမိ၏ဇနီးမိန်းမအား လည်းကောင်း၊ ဇနီးမိန်းမသည် မိမိ၏ လင်ယောကျ်ားအားလည်းကောင်း ဇကာတ်မပေးပိုင်)။

ကြည့်-ဟိဒါယတ်။ အ-၂။ စ(၁၈၄-၁၁၈)။

အထက်ဖော်ပြပါစည်းကမ်းချက်များသည် ဖရည်ဦဖြစ်သော ဇကာတ်နှင့်သာလျှင် သက်ဆိုင်ပေသည်။ "နဖ်လ်" သာမန် ရိုးရိုးအလှူများနှင့်ကား မသက်ဆိုင်ပေ။ ထာနဝီ။ အ-၄။စ-၁၁၂။

**မှတ်ချက်။**

ဇကာတ်နှင့်စပ်လျဉ်း၍ အခြားအသေးစိတ်ပြဿနာများကို သိလိုပါက ဟိဒါယဟ်ကျမ်းတွင် ရှုပါကုန်။

وَمِنْهُمُ الَّذِيْنَ يُؤْذُوْنَ النَّبِيَّ وَيَقُوْلُوْنَ هُوَ اُذُنٌ ۗ قُلْ اُذُنُ خَيْرٍ لَّكُمْ يُؤْمِنُ بِاللّٰهِ وَيُؤْمِنُ لِلْمُؤْمِنِيْنَ وَرَحْمَةٌ لِّلَّذِيْنَ اٰمَنُوْا مِنْكُمْ ۗ وَالَّذِيْنَ يُؤْذُوْنَ رَسُوْلَ اللّٰهِ لَهُمْ عَذَابٌ اَلِيْمٌ ﴿٦١﴾

၆၁။ ထိုမှတပါး ၎င်းတို့တွင် အချို့သူများသည် နဗီတမန်တော်မြတ်အား စိတ်ဒုက္ခပေးကြ၏။ ၎င်းပြင် ထိုနဗီတမန်တော်မြတ်သည် (မည်သည့်စကားမျိုးမဆို) *နားထောင်(၍ယုံစား)လေ့ရှိသည်ဟုပြောဆိုကြ၏။* ၁ (အို-နဗီတမန်တော်)အသင်သည် (၎င်းတို့အား ဤသို့) ပြောကြားပါလေ။ (ဟယ်-အချင်းတို့)ငါသည် အသင်တို့နှင့် ပတ်သက်၍ ကောင်းရာကောင်းကြောင်းများကိုသာ နားထောင်လေ့ရှိသည်။ အလ္လာဟ်အရှင်မြတ်အား ယုံကြည်သည်။ မုအ်မင်န် သက်ဝင်ယုံကြည်သူများကိုလည်း (၎င်းတို့ပြောကြားသောသတင်းစကားနှင့်စပ်လျဉ်း၍) ယုံကြည်ထောက်ခံလေသည်။ ၎င်းပြင် အသင်တို့အနက်မှ သက်ဝင်ယုံကြည် ကြကုန်သောသူတို့အဖို့ ကရုဏာတော်လည်း ဖြစ်ချေသည်။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အား စိတ်ဒုက္ခပေးကြသောသူတို့တွင် ပြင်းပြနာကျင်ဖွယ်ဖြစ်သောပြစ်ဒဏ်သည် ရှိချေအံ့သတည်း။

---

(၁) မုနာဖစ်က်များသည် အချင်းချင်း စုဝေးတိုင်ပင်ပြီး အစ္စလာမ်နှင့်စပ်လျဉ်း၍လည်းကောင်း၊ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့်ပတ်သက်၍လည်းကောင်း၊ သိမ်ဖျင်းသော စကားများ၊ မကောင်းသောစကားများ၊ အယုတ္တအနတ္တ ပြောဆိုကြသည်။ တဦးတယောက်က "ဤစကားများသည် တမန်တော်မြတ်ထံသို့ ရောက်ရှိသွားလိမ့်မည်" ဟုပြောဆိုလျှင် ကျန်မုနာဖစ်က်များက "စိုးရိမ်စရာမရှိပါ၊ ကျွန်ုပ်တို့သည် တမန်တော်မြတ်ရှေ့တွင် လိမ်လည် အဓိပ္ပါယ်ဖော်ပြပြီး မိမိတို့၌ အပြစ်မရှိကြောင်း တမန်တော်မြတ်အား ယုံကြည်သွားစေကြမည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်သည် နားချည်းသာဖြစ်သည်။ ကြားရှိသမျှ ယုံကြည်သည်သာဖြစ်သည်။ တမန်တော်မြတ်အား လှည့်စားရန် မခက်ပါ" ဟု ဖြေကြားကြ၏။

အမှန်မှာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကြားရှိသမျှသောစကားကို ယုံစားတော်မူသည်မဟုတ်၊ အမှားအမှန်ကို ကောင်းစွာ ခွဲခြားသိတော်မူသည်။ သို့ရာတွင် တမန်တော်မြတ်သည် မိမိ၏ ဟီရိဩတ္တပ္ပ၊ အရှက်၊ အရိအသေ၊ ဂုဏ်သိက္ခာ၊ စိတ်စေတနာ ကောင်းမွန်မြင့်မြတ်မှုကြောင့် မသားစကားပြောဆိုသူများကိုပင် ချက်ချင်း အရေးယူတော်မမူခဲ့ပေ။ တမန်တော်မြတ်သည် ကောင်းမွန်မြင့်မြတ်လှသော စာရိတ္တရှင် ဖြစ်တော်မူသည့်အတွက် ဖြစ်ရပ်မှန်ကို သိတော်မူပါလျက် လျစ်လျူပြုတော်မူလေ့ရှိသည်။ ယင်းသို့ လျစ်လျူပြုတော်မူသည်ကိုပင် သူမိုက်တို့က တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ၎င်းတို့၏ စကားကို နားမလည်ဟု မှတ်ထင်နေကြလေသည်။ ထို့အတွက်ကြောင့် ဤအာယတ်တော်တွင် ➤➤

يَحْلِفُونَ بِاللّٰهِ لَكُمْ لِيُرْضُوكُمْ وَاللّٰهُ وَرَسُولُهُۥٓ أَحَقُّ أَنْ يُرْضُوهُ إِنْ كَانُوا مُؤْمِنِينَ ﴿٦٢﴾

၆၂။ ထိုသူတို့သည် အသင်တို့အား နှစ်သိမ့်ကျေနပ်စေအံ့သောငှာ အလ္လာဟ်အရှင်မြတ်အားတိုင်တည်၍ ကျိန်ဆိုကြလေသည်။ ၁ စင်စစ်သော်ကား အကယ်၍သာ ထိုသူတို့သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူများ ဖြစ်ကြပါလျှင် အလ္လာဟ် အရှင်မြတ်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ရစူလ်တမန်တော်မြတ်သည်လည်းကောင်း၊ ထိုသူတို့၏ ကျေနပ်စေခြင်းကို ပိုမို၍ပင် ခံထိုက်တော်မူ၏။

>> ဤသည့် အချက်ကိုပင် ဖြေကြားထားတော်မူသည်။ တမန်တော်မြတ်သည် နားချည်းပင်ဖြစ်လင့်ကစား ယင်းမုနာဖစ်က်များ၏ ကောင်းကျိုးအဖို့သာ ဖြစ်သည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဤအကျင့်စာရိတ္တသည် ၎င်းတို့အဖို့ အကောင်းသာဖြစ်သည်။ သို့မဟုတ်လျှင် ထိုမုနာဖစ်က်များသည် ဦးစွာပထမ အရေးယူခြင်း ခံကြရမည်သာဖြစ်သည်။ ထို့ပြင်တဝ တမန်တော်မြတ်၏ ကောင်းမွန်မြင့်မြတ်သည့် ကိုယ်ကျင့်တရား၊ တမန်တော်မြတ်၏ လျစ်လျူပြုမှုများကို ယင်းမုနာဖစ်က်များ တချို့ သိမြင်လာကြလျှင် ဤသည်လည်း ၎င်းတို့အဖို့ တရားရရန်အကြောင်း ဖြစ်နိုင်ပေသည်။ ၎င်းတို့၏ မုသားစကားများကို တမန်တော်မြတ် နားထောင်တော်မူပြီး ဆိတ်ဆိတ်နေတော်မူခြင်းမှာ တမန်တော်မြတ် ယုံကြည်၍မဟုတ်။ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်အားသာ ယုံကြည် မြတ်နိုးတော်မူသည်။ မုအ်မင်န်တို့၏ စကားကိုသာ ယုံကြည်တော်မူသည်။ "အီမာန်" ယုံကြည်ကြပါသည်ဟု ထုတ်ဖော်ပြောဆိုနေသောသူများ၏ စကားများနှင့် စပ်လျဉ်း၍ တမန်တော်မြတ် ဆိတ်ဆိတ်နေတော်မူခြင်းမှာလည်း တနည်းအားဖြင့် ၎င်းတို့အား သနားကြင်နာ တော်မူခြင်းပင်ဖြစ်သည်။ သို့ဆိတ်ဆိတ်နေတော်မမူပဲ ၎င်းတို့၏မုသားစကားများနှင့် ၎င်းတို့၏အတွင်းသဏ္ဍာန်ကို အမှန်အတိုင်း ထုတ်ဖော်မြွက်ဟတော်မူလိုက်ပါက ၎င်းတို့သည် မုချ အရှက်တကွဲ အကျိုးနည်းဖြစ်ကြရမည်။

သို့တစေလည်း မုနာဖစ်က်များ၏ ယုတ်မာဆိုးသွမ်းမှုများနှင့် တမန်တော်မြတ်၏နောက်ကွယ်တွင် အယုတ္တအနတ္တ ကဲ့ရဲ့ပြစ်တင် ပြောဆိုကြသည့်စကားများကို အလ္လာဟ်အရှင်မြတ် ကောင်းစွာ သိတော်မူရာ ၎င်းတို့သည် ပြင်းပြ နာကျင်စေမည့် ပြစ်ဒဏ်ကို ခံစားရန် အသင့် စောင့်မျှော် နေကြရန်သာ ရှိပေတော့သည်။

(၁) တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် တခါတရံ မုနာဖစ်က်တို့၏ သစ္စာဖောက်မှု၊ လိမ်လည်လှည့်ဖြားမှုကို အရေးယူတော်မူသည့်အခါ မုနာဖစ်က်များသည် မွတ်စ်လင်မ်တို့အား ကျေနပ်နှစ်သိမ့်စေရန်အတွက် မွတ်စ်လင်မ်တို့၏ရှေ့မှောက်တွင် အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ "ကျွန်ုပ်တို့၏ စိတ်စေတနာမှာ အကောင်းပင်ဖြစ်ပါသည်"။ "ကျွန်ုပ်တို့သည် အဘယ်စကားကိုမျှ မပြောမဆိုမိပါ"၊ "အဘယ်စွပ်စွဲချက်တွင် အပြစ်မဲ့ဖြစ်ပါသည်"... စသည်ဖြင့် ကျိန်ဆိုပြောဆိုကြသည်။ ဤသို့ ကျိန်ဆိုပြောဆိုခြင်းမှာ မွတ်စ်လင်မ်တို့အား ကျေနပ်စေပြီး မိမိတို့ဘက်သို့ပါလာအောင် ပြုလုပ်ခြင်းသာဖြစ်သည်၊ အလ္လာဟ် အရှင်မြတ်နှင့် ပတ်သက်၍ လည်းကောင်း၊ တမန်တော်မြတ်နှင့် ပတ်သက်၍ လည်းကောင်း၊ ဤသို့ လိမ်လည် လှည့်ဖြားခြင်းသည် ၎င်းတို့အဖို့ မည်သို့မျှ အကျိုးရှိမည် မဟုတ်သည်ကို ယင်း မုနာဖစ်က်များ မသိကြပေ။ အကယ်၍ >>

၆၃။ ဧကန်စင်စစ် မည်သူမဆို အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထို အရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ ဆန့်ကျင်ဘက် ပြုပါလျှင် မလွဲဧကန် ထိုသူ၏အဖို့ ငရဲမီးသာလျှင် ရှိ၍ ထိုငရဲမီးတွင် ထာဝစဉ်နေထိုင်လျက် ရှိချေမည်။ ဤကား ကြီးကျယ်လှစွာသော ကျိုးယုတ်ရှက်ရစေခြင်း ပင် [၁] ဖြစ်သည်ကို ထိုမုနာဖစ်က်များသည် (ယခုထက်တိုင်) မသိကြသေးသလော။ [၂]

أَلَمْ يَعْلَمُوٓا۟ أَنَّهُۥ مَن يُحَادِدِ ٱللَّهَ وَرَسُولَهُۥ فَأَنَّ لَهُۥ نَارَ جَهَنَّمَ خَـٰلِدًا فِيهَا ۚ ذَٰلِكَ ٱلْخِزْىُ ٱلْعَظِيمُ ﴿٦٣﴾

➤➤ မုနာဖစ်က်များသည် ၎င်းတို့ ထုတ်ဖော်ပြောဆိုနေကြသည့်အတိုင်း စိတ်စေတနာ ဖြူစင်စွာဖြင့် "အီမာန်" ယုံကြည်သော "မုအ်မင်န်" အစစ်အမှန်များ ဖြစ်ကြလျှင် အခြားသူများကိုစွန့်၍ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်အား ကျေနပ်နှစ်သိမ့်အောင် ပြုလုပ်ရန်အတွက် အထူးကြိုးပမ်းရန်သာရှိသည်။

ဤအာယတ်တော်၌ (ယုရ်ဿူဟု)တွင် ပါရှိသော (ဟု) ဟူသောနာမ်စားသည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ရည်ညွှန်းသည်ဟူ၍လည်း ဆိုနိုင်၏။ အလ္လာဟ်အရှင်မြတ်အား ရည်ညွှန်းသည်ဟူ၍လည်း ဆိုနိုင်၏။

ဤသို့ နာမ်စားတခုတည်းဖြင့် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ တမန်တော်မြတ်အားလည်းကောင်း၊ ရည်ညွှန်းနိုင်အောင် စီကုံးဖွဲ့နွဲ့ သုံးနှုန်းထားတော်မူခြင်းအားဖြင့် တမန်တော်မြတ်၏ကျေနပ်မှုသည် အလ္လာဟ်အရှင်မြတ်၏ကျေနပ်မှုနှင့် ဆက်စပ်ရောပြွမ်းလျက်ရှိကြောင်း သိရှိရပေသည်။ ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်ထံတော်တွင် တမန်တော်မြတ် သည် အဘယ်မျှ နီးစပ်တော်မူကြောင်း၊ အဘယ်မျှ နှစ်မြို့တော်မူခြင်း ခံရတော်မူကြောင်း ကောင်းစွာ သိနိုင်ပေသည်။

ဤအာယတ်တော်တွင် (ကွန်မ်) "အသင်တို့" ဟူသော နာမ်စားသည် မွတ်စ်လင်မ်တို့အား ရည်ညွှန်းမိန့်ဆိုထားတော်မူခြင်းဖြစ်သည်။ မုနာဖစ်က်များသည် ကဲ့ရဲ့ပြစ်တင် အယုတ္တအနတ္တ ပြောဆိုလေ့ရှိခဲ့ကြ၏။ ဂျိဟာဒ်သို့ မလိုက်ပါပဲ နောက်ချန်၍ ထိုင်နေလေ့ရှိကြ၏။ ထို့နောက် ယင်းမုနာဖစ်က်များသည် မွတ်စ်လင်မ်တို့ထံ လာ၍ (၎င်းတို့သည် အပြစ်မဲ့သူများဖြစ်ကြောင်း) အကြောင်းပြကြ၏။ မိမိတို့ အကြောင်းပြချက်များကို လေးနက်စေရန် ကျိန်ဆိုကြ၏။

ဤသို့ပြုလုပ်ခြင်းမှာ မွတ်စ်လင်မ်များက ၎င်းတို့အား အပြစ်မဲ့သူများ အကြောင်းရှိနေသူများဟူ၍ ယူဆကြရန်နှင့် ၎င်းတို့အား ကျေနပ်ကြရန်ပင်ဖြစ်သည်၊ ထို့အတွက်ကြောင့် ၎င်းတို့အား

"အကယ်၍ အသင်တို့သည် အသင်တို့ ထင်မြင်ယူဆပြောဆိုကြသည့်အတိုင်း မုအ်မင်န်များ ဖြစ်ကြပါလျှင်၊ အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ တမန်တော်မြတ်အား အမိန့်နာခံ လိုက်နာခြင်းဖြင့် ကျေနပ်အောင် ပိုမို၍ လုပ်ထိုက်ကြပေသည်"

ဟု မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

(၁) မုနာဖစ်က်များသည် အကြင်ကျိုးယုတ်ရှက်ရဖြစ်မှုမှ လွတ်ကင်းရန်အတွက် 'မုနာဖစ်က်' ဖြစ်ခဲ့ကြ၏။ 'နိဖာက်' အယောင်ဆောင်မှုကို လက်ခံကျင့်သုံးခဲ့ကြ၏။ မွတ်စ်လင်မ် အယောင်ဆောင်ခဲ့ကြ၏။ ယခုမှု ➤➤

يَحْذَرُ الْمُنٰفِقُوْنَ اَنْ تُنَزَّلَ عَلَيْهِمْ سُوْرَةٌ تُنَبِّئُهُمْ بِمَا فِيْ قُلُوْبِهِمْ ۗ قُلِ اسْتَهْزِءُوْا ۚ اِنَّ اللّٰهَ مُخْرِجٌ مَّا تَحْذَرُوْنَ ﴿٦٤﴾

၆၄။ "မုနာဖစ်က်" တို့သည် ထို 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အပေါ်၌ မိမိတို့၏ စိတ်နှလုံးတွင်းရှိသည်တို့ကို ထိုမုအ်မင်န်တို့အား သိကြားစေသောကဏ္ဍတခုခု ချပေးခြင်းခံရမည်ကို ကြောင့်ကြစိုးရိမ်လျက်ရှိကြလေသည်။ (အို-နဗီတမန်တော်) အသင်သည် (ထိုမုနာဖစ်က်တို့အား ဤသို့)ပြောကြားပါလေ။ "အသင်တို့သည် ပြက်ရယ်ပြောင်လှောင်နေကြကုန်၊ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် အသင်တို့ စိုးရိမ်လျက်ရှိကြသည်ကို ထုတ်ဖော်တော်မူမည့် အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။" ၁

---

➤➤ ထိုအကျိုးယုတ် အရှက်ရ ဖြစ်မှုထက်ပင် ဆိုးရွားလှသော အကျိုးယုတ် အရှက်ရဖြစ်ကြရလေပြီ။ အမြဲထာဝစဉ် ငရဲလားကြရပေပြီ။

(၂) 'ထိုသူများသည် မသိကြသေးသလော' ဟူ၍ သုံးနှုန်းထားတော်မူခြင်း၏ သဘောမှ 'တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ၎င်းတို့အား အချိန်ကြာမြင့်စွာကပင် သွန်သင်ဆုံးမ ဩဝါဒပေးတော်မူခဲ့၏။ သင်ကြားပို့ချတော်မူခဲ့၏။ သို့တစေလည်း ထိုသူများသည် ယခုထက်တိုင် ဤစကားကိုပင် မသိနားမလည်ကြသေးသလော' ဟူ၍ ဖြစ်၏။

(၁) မုနာဖစ်က်များသည် မိမိတို့၏ ဆွေးနွေးပွဲများတွင် အစ္စလာမ်နှင့်စပ်လျဉ်း၍လည်းကောင်း၊ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် ပတ်သက်၍လည်းကောင်း၊ ကဲ့ရဲ့ပြစ်တင်ပြောဆိုလေ့ရှိကြ၏။ မုအ်မင်န်များနှင့် ပတ်သက်၍လည်း အယုတ္တအနတ္တ ပြောဆိုလေ့ရှိကြ၏။ အစ္စလာမ်သာသနာ့မဏ္ဍိုင်များကိုလည်း ပြောင်လှောင်လေ့ရှိကြ၏။ ထို့နောက် တဖန် ဤသည့်စကားရပ်များသည် တမန်တော်မြတ်ထံသို့ ရောက်ရှိသွားနိုင်ပေသည်ဟု တွေးထင်မိကြသောအခါ ၎င်းတို့က စိုးရိမ်စရာမရှိ၊ တမန်တော်မြတ်သည် နားချည်းသာဖြစ်၏။ ကြားရှိသမျှ ယုံစားတတ်၏၊ ငါတို့သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ရှေ့မှောက်တွင် လိမ်လည်လှည့်ပတ်၍ ရှင်းပြ ပြောဆိုကြလျှင် တမန်တော်မြတ်သည် ငါတို့၏စကားများကို ယုံစားသွားပေမည်" ဟု ပြောဆိုကြ၏။ သို့ရာတွင် မကြာခဏ အလ္လာဟ်အရှင်မြတ်က "ဝဟီ"ဖြင့် သိကြားစေတော်မူခြင်းကြောင့် ၎င်းတို့၏ "နိဖာက်" အယောင်ဆောင်မှုနှင့် အတွင်းစိတ်ဓာတ် ယုတ်မာမှုများ ပေါ်လွင် ထင်ရှားသွားတတ်သည့်အတွက် မုနာဖစ်က်များသည် ၎င်းတို့၏စိတ်တွင်း ဖုံးကွယ်ထားသည့် လျှို့ဝှက်ချက်များကို မုအ်မင်န်တို့အား သိကြားစေမည့် ကဏ္ဍတခုခု၊ အာယတ်တော် တပါးပါး ကျရောက်လာမည်ကို အထူးစိုးရိမ်နေကြ၏။ အမှန်မှာ မုနာဖစ်က်များ၏ စိတ်နှလုံးများသည် သတ္တိကြောင်မှု၊ စိတ်အားငယ်မှု၊ အားနည်းမှုများကြောင့်၊ မပြတ်သားပေ၊ တသမတ်တည်း မရှိပေ၊ အမြဲတစေ မဝေခွဲတတ်ပဲ ဇဝေဇဝါဖြစ်လျက် ရှိပေသည်။ ယင်းမုနာဖစ်က်များသည် တခါတရံ တမန်တော်မြတ်၏ လျစ်လျူရှုမှုကို ကြည့်ပြီး အနည်းငယ်စိတ်အေးကြ၏။ "သို့ရာတွင် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ကြားနာရပြန်သော် တုန်လှုပ်ချောက်ချားကြပြန်၏။ ထို့အတွက်ကြောင့် အာယတ်တော်တွင် "အသင် ➤➤

وَلَئِن سَأَلْتَهُمْ لَيَقُولُنَّ إِنَّمَا كُنَّا نَخُوضُ وَنَلْعَبُ قُلْ أَبِاللَّهِ وَءَايَٰتِهِۦ وَرَسُولِهِۦ كُنتُمْ تَسْتَهْزِءُونَ ﴿٦٥﴾

၆၅။ စင်စစ်သော်ကား အကယ်၍ အသင်သည် ထိုသူတို့အား စစ်ဆေးမေးမြန်းခဲ့ပါလျှင် ဧကန်မလွဲ ၎င်းတို့က "ကျွန်ုပ်တို့သည် အပျော်အပျင်းပြေစကား ပြောဆိုလျက်သာရှိကြပါသည်၊ ၎င်းပြင် ကျွန်ုပ်တို့သည် *ရယ်စရာပြောဆိုလျက်သာ ရှိကြပါသည်*" [၁] ဟု ဖြေကြားလတ္တံ့။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (ဟယ်-အချင်းတို့) အသင်တို့သည် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏အာယတ်တော်များကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ *ပြက်ရယ်ပြောင်လှောင်ကြလေသလော*။ [၂]

---

➤➤ တို့သည် ပြောင်လှောင်၍ နေကြကုန်၏။ တမန်တော်မြတ်အားလည်း နားချည်း" ဟု ပြောဆို၍ စိတ်အေးနေကြကုန်၊ သို့ရာတွင် အသင်တို့ စိုးရိမ်ကြောင့်ကြနေကြသည့် အချက်များကို မကြာမီအတွင်း အလ္လာဟ်အရှင်မြတ်က ဖွင့်ဟထုတ်ဖော်၍ အသင်တို့၏ ဉာဏ်နီ ဉာဏ်နက်၊ ပရိယာယ်မာယာများကို လုံးဝဖျက်ဆီးတော်မူမည်ကိုလည်း သိထားကြကုန်" ဟု မိန့်ဆို ထားတော်မူခြင်းဖြစ်သည်။

ဤအာယတ်တော်နှင့် ဆက်စပ်၍ ကုရ်အာန်ကျမ်းမြတ်(၅း၅၈)ကိုလည်းကောင်း၊ (၄၇း၂၉-၃၀)ကိုလည်းကောင်း ရှုပါကုန်။

(၁) တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့်တကွ မွတ်စ်လင်မ်များ "တဗူးက်" စစ်ပွဲသို့ ချီတက်သွားနေခိုက် အချို့မုနာဖစ်က်များက

"အသင်တို့သည် ဤသူ(တမန်တော်မြတ်)ကို ကြည့်ကြစမ်း၊ သူသည် ဆီရိယနိုင်ငံ၏နန်းတော်များနှင့် ရောမတိုင်းပြည်၏ မြို့များကို သိမ်းပိုက်အောင်နိုင်မည်ဟု အိပ်မက်မက်နေသည်။ သူသည် ရောမစစ်သည်များနှင့် ပြိုင်ဆိုင်တိုက်ခိုက်ရမည့် အရေးကို အရဗ်လူမျိုးအချင်းချင်း တိုက်ခိုက်သည့် စစ်ပွဲမျိုးဟု ထင်မှတ်နေသည်။ နက်ဖြန် ကျွန်ုပ်တို့သည် ရောမစစ်သည်တော်များ ရှေ့မှောက်တွင် ကြိုးများနှင့် တုပ်နှောင်ခံရပြီး စစ်သုံ့ပန်းများအဖြစ် မတ်တတ်ရပ်လျက် ရှိကြမည်မှာ ယုံးမှားဖွယ်ရာမရှိ။ ကျွန်ုပ်တို့၏ ဤအစား ပုတ်၊ လူလိမ်၊ သတ္တိကြောင် "ကာရီ" (သာဝကကြီး)များသည် စနစ်တကျ ဖွဲ့စည်းထား သော ရောမစစ်သည်များနှင့် ပြိုင်ဆိုင်တိုက်ခိုက်ကြမည်လော . . . စသည်ဖြင့် မွတ်စ်လင်မ်တို့အား ရောမ စစ်သည်များဘက်မှ ခြောက်လှန့်၍ စိတ်ဓာတ်ကျဆင်းစေရန် ပြောဆိုနေခဲ့ကြ၏။

ဤသည့် စကားရပ်များကို တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ကြားသိတော်မူသော အခါ၊ ယင်း မုနာဖစ်က်များအား ခေါ်၍ မေးမြန်းတော်မူလေသည်။ ထိုအခါ မုနာဖစ်က်များက "တမန်တော်မြတ်၊ ကျွန်ုပ်တို့သည် အမှန်စင်စစ် ဤသို့သောယုံကြည်ချက်များ အသို့လျှင် ထားရှိကြပါမည်နည်း။ ➤➤

لَا تَعْتَذِرُوا قَدْ كَفَرْتُم بَعْدَ إِيمَانِكُمْ ۚ إِن نَّعْفُ عَن طَائِفَةٍ مِّنكُمْ نُعَذِّبْ طَائِفَةً بِأَنَّهُمْ كَانُوا مُجْرِمِينَ ﴿٦٦﴾

၆၆။ အသင်တို့သည် (အချည်းနှီး) အကြောင်း မပြကြကုန်လင့်။ စင်စစ်ဧကန် အသင်တို့သည် မိမိတို့ အီမာန်သက်ဝင်ယုံကြည်ကြောင်း ထုတ်ဖော်ပြောဆိုပြီး နောက် သွေဖည် ငြင်းပယ်ခဲ့ကြလေပြီ၊ အကယ်၍ ငါအရှင်မြတ်သည် အသင်တို့အနက် လူတစုကို ခွင့်လွှတ်တော်မူငြားအံ့လည်း အခြားလူတစုကိုမူကား *ပြစ်ဒဏ်ပေးတော်မူမည်သာဖြစ်သည်။* ^ ^ အကြောင်း သော်ကား ၎င်းတို့သည် ပြစ်မှု ထင်ရှားသောသူများ ဖြစ်ကြသောကြောင့်ပင်တည်း။

---

➤➤ ကျွန်ုပ်တို့သည် စကားပြောယင်းဆိုယင်း အလွယ်တကူ ခရီးရောက်နိုင်ရန်အတွက် အချိန်ကုန်စေခြင်း၊ အပျင်းပြေ အဖျင်းစကားပြောခြင်း၊ ပြောင်လှောင်ခြင်းအနေဖြင့် ပြောဆိုခဲ့ခြင်းသာဖြစ်ပါသည်" ဟု ဖြေဆိုခဲ့ကြလေသည်။

(၂) စကားလေ၊ စကားလွင့် ပြောဆိုခြင်း၊ ပြက်ချော်ပြောင်လှောင်ခြင်းများသည် ကောင်းသောအကျင့်မဟုတ်ပေ။ အထူးသဖြင့် အလ္လာဟ်အရှင်မြတ်၊ ထိုအရှင်မြတ်၏ တမန်တော်မြတ်၊ အစ္စလာမ်သာသနာရေးဆိုင်ရာ အမိန့်ပညတ်တော်များသည် ပြောင်လှောင်ပြက်ချော်ဖွယ်ရာများ အလျင်းမဟုတ်ပေ။ အလ္လာဟ်အရှင်မြတ်၊ တမန်တော်မြတ်နှင့် အစ္စလာမ်သာသနာရေးဆိုင်ရာ အမိန့်ပညတ်တော်များကို စိတ်မပါပဲ နှုတ်ဖြင့် ပြောင်လှောင် ပြက်ချော်ခြင်းသည်ပင် အလွန်ကြီးမားလှသော အပြစ်ဖြစ်သည်၊ ကုဖ်ရ်ဖြစ်သည် သို့ပါလျက် မုနာဖစ်က်များသည် ယုတ်မာသောစိတ်ဖြင့် အနှောင့်အယှက်ပေးရန် ရည်စူး၍ ပြောင်လှောင်ပြက်ချော်သမှု ပြုခဲ့ကြပေသည်။ ၎င်းတို့၏ အပြစ်ကား အဘယ်မျှ ကြီးမားမည်ကို စဉ်းစား၍ပင် မရနိုင်ပေ။

သာသနာတော်ကို တမင်သက်သက် ရည်ရွယ်၍ ပြက်ချော်ပြောင်လှောင်ခြင်းသည် ယုံကြည်၍ဖြစ်စေ၊ မယုံကြည်ပဲဖြစ်စေ 'ကုဖ်ရ်' ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်အားသော်လည်းကောင်း၊ ထိုအရှင်မြတ်၏ အာယတ်တော်များကိုသော်လည်းကောင်း၊ ထိုအရှင်မြတ်၏ တမန်တော်မြတ်အားသော်လည်းကောင်း၊ ပြောင်လှောင် ပြက်ချော်ခြင်းသည် အတူတူပင်ဖြစ်သည်။ ထာနဝီ။ အ-၄။ စ-၁၂၅။

**အထူးသတိပြုဖွယ်။**

ယခုအချိန် မွတ်စ်လင်မ်များသည် အချင်းချင်း ပြောင်လှောင်ပြောဆိုကြသည့်အခါမျိုးတွင် ကုရ်အာန်ကျမ်း ၏ အချို့အာယတ်တော်များ၏ အသံထွက်ကို မိမိဘာသာစကား အသံထွက်နှင့် ကာရံညီ၊ အသံတူ၊ ဆင်တူရိုးမှား ရွတ်ဆို၍ မိမိတို့လိုရာ အဓိပ္ပါယ်တွင် ပြောဆိုသုံးစွဲလေ့ရှိကြ၏။ အချို့ကလည်း ကုရ်အာန်ကျမ်းလာ အာယတ်တော်၏ အသံထွက်ကို အနည်းငယ်ပြောင်း၍ မိမိဘာသာစကား အသံထွက်အရ အဓိပ္ပါယ်ကောက်ယူ ပြောဆိုလေ့ရှိကြ၏။ ဤသို့ကား အလျင်း မပြောဆိုထိုက်၊ **"ကုဖ်ရ်"** ဖြစ်၏။ အပြစ်ကြီးမားလှ၏။ မေ့မှား၍ ပြောဆိုမိကြသောသူများသည် အချိန်မီ ဝန်ချတောင်းပန်ရမည်ဖြစ်၏။

(၁) အချို့ မုနာဖစ်က်များသည် မိမိတို့၏ အပြစ်များကို ဖုံးကွယ်ရန်အတွက် လိမ်လည်လှည့်ဖြား၍ အဓိပ္ပါယ် ကင်းမဲ့သော၊ မမှန်ကန်သောအကြောင်းများကိုတင်ပြကြသော်လည်း ၎င်းတို့၏အကြောင်းပြချက်များသည် ➤➤

الْمُنٰفِقُوْنَ وَالْمُنٰفِقٰتُ بَعْضُهُمْ مِّنْۢ بَعْضٍ ۘ يَاْمُرُوْنَ بِالْمُنْكَرِ وَيَنْهَوْنَ عَنِ الْمَعْرُوْفِ

၆၇။ 'မုနာဖစ်က်'မွတ်စ်လင်မ် အယောင်ဆောင်သော ယောကျ်ား၊ မိန်းမတို့သည် တမျိုးတစားတည်းပင် ဖြစ်ကြကုန်၏။ ၎င်းတို့သည် စက်ဆုပ်ရွံ့ရှာဖွယ်များကို အမိန့်ပေးကြလေသည်။ ထို့ပြင် ကောင်းမှုများမှ တားမြစ်ကြလေသည်။ ထိုမှတပါး ၎င်းတို့သည် (အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ သုံးစွဲခြင်းမပြုပဲ) *မိမိတို့၏လက်များကို ဆုပ်ထားကြလေသည်။* ၁

➤➤ ၎င်းတို့အဖို့ အနည်းငယ် စိုးစဉ်းမျှ အကျိုးဖြစ်ထွန်းစေမည် မဟုတ်ပေ။ ပြက်ချော်ပြောင်လှောင်သော မွတ်စ်လင်မ် အယောင်ဆောင်နေကြသော မုနာဖစ်က်များသည် မိမိတို့၏ ပြက်ချော်ပြောင်လှောင်မှုနှင့် အယောင်ဆောင်မှုများ၏ ပြစ်ဒဏ်ကို ခံကြရမည်သာဖြစ်သည်။ သို့ရာတွင် မုနာဖစ်က်တဦးတယောက်သည် စိတ်စေတနာ ဖြူစင်စွာဖြင့် ဝန်ချတောင်းပန်၍ မိမိ၏ပြစ်မှုများကို ကြဉ်ရှောင်ပါလျှင် ၎င်းအား အလ္လာဟ်အရှင်မြတ်သည် ခွင့်လွှတ်တော်မူမည်ဖြစ်သည်။ သို့တည်းမဟုတ် အကြင်မုနာဖစ်က်တဦးသည် မုနာဖစ်က်ဖြစ်ခဲ့ပါလျက် အနှောင့်အယှက်ပေးခြင်း၊ ပြက်ချော်ပြောင်လှောင်ခြင်းတို့မှ ကင်းဝေးစွာနေခဲ့လျှင် ၎င်းအား အလ္လာဟ် အရှင်မြတ်သည် အယောင်ဆောင်မှု၏ အပြစ်ဒဏ်ပေးတော်မူမည် ဖြစ်သော်လည်း ပြောင်လှောင်ခြင်း၊ နှောင့်ယှက်ခြင်း၏အပြစ်ကိုမူ ပေးတော်မူမည်မဟုတ်ပေ။

"အကယ်၍ ငါအရှင်မြတ်သည် အသင်တို့အနက် လူတစုကို ခွင့်လွှတ်တော်မူငြားအံ့လည်း အခြားလူတစုကိုမူကား အပြစ်ဒဏ်ပေးတော်မူမည်သာ ဖြစ်သည်။ အကြောင်းသော်ကား ၎င်းတို့သည် အပြစ်ထင်ရှားသောသူများ ဖြစ်ကြသောကြောင့်ပင်တည်း" ဟူ၍ အာယတ်တော်လာရှိ၏။ ဤအာယတ်တော်၏ အလိုသဘောမှာ မုနာဖစ်က်များအနက် အချို့တို့သည် စိတ်စေတနာဖြူစင်စွာဖြင့် အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည် လာကြမည်သာဖြစ်သည်။ ထိုသို့သောသူများအား အလ္လာဟ်အရှင်မြတ်သည် ခွင့်လွှတ်တော်မူမည် ဖြစ်သည်။ သို့ရာတွင် အချို့မုနာဖစ်က်များသည် အလ္လာဟ်အရှင်မြတ်၏ အထံတော်၌ ပြစ်မှုထင်ရှားသူများ ဖြစ်ခဲ့ကြ၏၊ (ဝါ) ၎င်းတို့သည် အဘယ်အခါမျှ အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ကြမည် မဟုတ်ပေ။ ထိုသို့သောသူများကိုမူ အလ္လာဟ် အရှင်မြတ်သည် မုချပြစ်ဒဏ်ပေးတော်မူမည်သာ ဖြစ်သည်တည်း။

ထာနဝီ။ အ-၄။ စ-၁၂၅။

(၁) အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို အများဆုံး သွေဖည်ငြင်းပယ်သောသူများမှာ အတွင်းသဘော ယုတ်မာသော ဤမုနာဖစ်က်များပင် ဖြစ်ကြပေသည်။ ၎င်းတို့၏ မိန်းမ ယောကျ်ားအားလုံးတို့သည် နှုတ်ဖြင့် အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ကြောင်း ထုတ်ဖော်ပြောဆိုနေပါလျက် နေ့မအား ညမအား နည်းပရိယာယ် အမျိုးမျိုးတို့ဖြင့် သူတပါးတို့အား ကောင်းမှုများကို မြစ်တား၍ မကောင်းမှုကို ပြုလုပ်ရန် တိုက်တွန်းနှိုးဆော်လျက် ရှိနေခဲ့ကြသည်။ (အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌) သုံးသင့်သုံးအပ်သော အဓိကဌာနများတွင် မသုံးစွဲကြပေ။ အချုပ်အားဖြင့် မုနာဖစ်က်များသည် ပြစားရန်အတွက် နှုတ်ဖြင့် 'အီမာန်' ယုံကြည်ကြောင်း ထုတ်ဖော် ပြောဆိုနေကြသော်လည်း ၎င်းတို့၏ကိုယ်ဖြင့်လည်းကောင်း၊ ဥစ္စာပစ္စည်းဖြင့်လည်းကောင်း၊ မည်သူတဦးတယောက် အတွက်မျှ အကျိုးဖြစ်ထွန်းစေခြင်းမရှိခဲ့ပေ။ ယင်းမုနာဖစ်က်များသည် ဤကဲ့သို့ အလ္လာဟ်အရှင်မြတ်အား➤➤

وَيَقْبِضُونَ أَيْدِيَهُمْ ۚ نَسُوا اللَّهَ فَنَسِيَهُمْ ۗ إِنَّ الْمُنَافِقِينَ هُمُ الْفَاسِقُونَ ﴿٦٧﴾

ထိုသူတို့သည် အလ္လာဟ် အရှင်မြတ်အား မေ့လျော့ခဲ့ကြပေရာ၊ ထို အရှင်မြတ်သည်လည်း၊ ၎င်းတို့အား မေ့လျော့(ထား)တော်မူခဲ့လေသည်။ ၁ အကယ်စင်စစ်၊ မုနာဖစ်က်' မွတ်စ်လင်မ် အယောင်ဆောင်'တို့သည် အမှန်တကယ် အမိန့်ကိုသွေဖည်ငြင်းပယ်သော သူများပင် ဖြစ်ကြပေသတည်း။

وَعَدَ اللَّهُ الْمُنَافِقِينَ وَالْمُنَافِقَاتِ وَالْكُفَّارَ نَارَ جَهَنَّمَ خَالِدِينَ فِيهَا ۚ هِيَ حَسْبُهُمْ ۚ وَلَعَنَهُمُ اللَّهُ ۖ وَلَهُمْ عَذَابٌ مُقِيمٌ ﴿٦٨﴾

၆၈။ အလ္လာဟ် အရှင်မြတ်သည် 'မုနာဖစ်က်' မွတ်စ်လင်မ် အယောင်ဆောင်သောယောကျာ်း၊ မိန်းမတို့အားလည်းကောင်း၊ ကာဖိရ်များအားလည်းကောင်း၊ ဂျဟန္နမ်ငရဲမီး(ထဲသို့ လားစေတော်မူမည့်အကြောင်း) ကတိပြုထားတော်မူခဲ့လေသည်။ ၎င်းတို့သည်ထိုငရဲမီး၌ ထာဝစဉ်နေထိုင်လျက် ရှိကြလတ္တံ့။ ထိုငရဲမီးသည် ၎င်းတို့အား(ပြစ်ဒဏ်)ပေးရန် လုံလောက်တော်မူအံ့။ ထို့ပြင် အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့အား ကရုဏာတော်မှ ကင်းဝေးစေတော်မူအံ့။ ထိုမှတပါး ၎င်းတို့တွင် (ထိုအရှင်မြတ်၏ ကတိတော်အတိုင်း) ထာဝစဉ်တည်သော ပြစ်ဒဏ်သည် ရှိချေအံ့သတည်း။

كَالَّذِينَ مِنْ قَبْلِكُمْ كَانُوا أَشَدَّ مِنْكُمْ قُوَّةً وَأَكْثَرَ أَمْوَالًا وَأَوْلَادًا ۖ

၆၉။ (အသင်တို့၏ အခြေအနေကား) အသင်တို့အလျှင် ရှေးအထက်ကျော်ကာလ၌ ရှိခဲ့ကြဖူးသော သူတို့(၏အခြေအနေ)ကဲ့သို့ပင်။ ၎င်းတို့သည်အသင်တို့ထက် ခွန်အားဗလအားဖြင့် ပိုမို ပြင်းထန်ကြသည့်အပြင် ဥစ္စာပစ္စည်းနှင့် သားသမီးအားဖြင့်လည်း (အသင်တို့ထက်) အလွန်များပြားခဲ့ကြလေသည်။

➤➤ မေ့နေခဲ့ကြပေရာ အလ္လာဟ်အရှင်မြတ်သည်လည်း ၎င်းတို့အား မေ့လျော့ပစ်ပယ်ထားတော် မူခဲ့လေသည်။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား အဘယ်သို့ ပစ်ပယ်ထားတော်မူသည့်အကြောင်း ရှေ့လာလတ္တံ့သော အာယတ်တော်တွင် ပါရှိလေသည်။

၁ အလ္လာဟ်အရှင်မြတ်သည် မုနာဖစ်က်များအား မေ့တော်မူခြင်း၏ အလိုသဘောမှာ ထိုအရှင်မြတ်သည် ၎င်းတို့အား မိမိ၏ထူးခြားသည့် ကရုဏာတော်မှ ဖယ်ရှားထားတော်မူလိုက်ခြင်းကိုဆိုလိုသည်။

فَاسْتَمْتَعُوا بِخَلَاقِهِمْ فَاسْتَمْتَعْتُمْ بِخَلَاقِكُمْ كَمَا اسْتَمْتَعَ الَّذِينَ مِنْ قَبْلِكُمْ بِخَلَاقِهِمْ وَخُضْتُمْ كَالَّذِي خَاضُوا ۚ أُولَٰئِكَ حَبِطَتْ أَعْمَالُهُمْ فِي الدُّنْيَا وَالْآخِرَةِ ۖ وَأُولَٰئِكَ هُمُ الْخَاسِرُونَ ﴿٦٩﴾

သို့ဖြစ်ပေရာ ၎င်းတို့သည် မိမိတို့၏ (လောကီ)ဝေစုဝေပုံဖြင့် (အစွမ်းကုန်) အကျိုးခံစားခဲ့ကြလေသည်။ အသင်တို့သည် အသင်တို့ အလျင်ရှိခဲ့ကြဖူးသောသူများက မိမိတို့၏ (လောကီ)ဝေစုဝေပုံဖြင့် (အစွမ်းကုန်) အကျိုးခံစားခဲ့ကြသည့်နည်းတူ အသင်တို့သည်လည်း မိမိတို့၏ (လောကီ)ဝေစုဝေပုံဖြင့်(အစွမ်းကုန်)အကျိုးခံစားခဲ့ကြချေပြီ။ ထို့ပြင် ၎င်းတို့သည် မကောင်းမှုတို့၌ ဝင်ရောက်ခဲ့ကြသည့်အလား အသင်တို့သည်လည်း မကောင်းမှုတို့၌ ဝင်ရောက်ခဲ့ကြလေသည်။

ဤသူများသည်ပင် အကြင် သူများတည်း။ ထိုသူတို့၏ အကျင့်အမူများသည် ပစ္စုပ္ပန် လောကီဘဝ၌လည်းကောင်း၊ နောင်တမလွန်ဘဝ၌လည်းကောင်း၊ အချည်းအနှီးပင် ဖြစ်ခဲ့ကြချေပြီ၊ ၎င်းပြင် ဤသူများသာလျှင် နစ်နာဆုံးရှုံးသောသူများ ဖြစ်ကြကုန်သတည်း။ ①

أَلَمْ يَأْتِهِمْ نَبَأُ الَّذِينَ مِنْ قَبْلِهِمْ قَوْمِ نُوحٍ وَعَادٍ وَثَمُودَ وَقَوْمِ إِبْرَاهِيمَ وَأَصْحَابِ مَدْيَنَ وَالْمُؤْتَفِكَاتِ ۚ أَتَتْهُمْ رُسُلُهُمْ

၇၀။ ထို(မုနာဖစ်က်)များထံသို့ ၎င်းတို့အလျင်ရှိခဲ့ကြသောသူတို့၏ (ပျက်စီးဆုံးရှုံးခြင်း၏)သတင်း၊ (ဥပမာ-နဗီတမန်တော်) 'နူဟ်'၏ အမျိုးသားများ၏သတင်း၊ 'အာဒ်' အမျိုးသားများ၏သတင်း၊ 'ဆမူဒ်' အမျိုးသားများ၏သတင်း၊ (နဗီတမန်တော်) 'အစ်ဗ်ရာဟီမ်' ၏ အမျိုးသားများ၏သတင်း၊ 'မဒ်ယန်' မြို့သားများ၏သတင်း၊ ထက်အောက်ပြောင်းပြန်ဖြစ်၍ ပျက်စီးသွားခဲ့သောမြို့များ၊ ရွာများ၏သတင်းသည် မရောက်ရှိခဲ့လေသလော။

① အတိတ်ခေတ်တွင် အချို့အမျိုးသားများသည် ခွန်အားဗလ အလွန်ကြီးမားခဲ့ကြ၏။ ဥစ္စာပစ္စည်း အလွန်ချမ်းသာကြွယ်ဝခဲ့ကြ၏။ သားသမီး ပေါများခဲ့ကြ၏။ ၎င်းတို့သည် နောက်ဆုံး ဖြစ်ပေါ်လာမည့် ဘေး ➤➤

بِالْبَيِّنٰتِ ۚ فَمَا كَانَ اللّٰهُ لِيَظْلِمَهُمْ وَلٰكِنْ كَانُوْٓا اَنْفُسَهُمْ يَظْلِمُوْنَ ۝٧٠

ငင်းတို့ထံ ငင်းတို့၏ ရစူလ်တမန်တော်များသည် ထင်ရှားလှစွာသော သက်သေလက္ခဏာများနှင့်တကွ ရောက်ရှိလာခဲ့ကြလေသည်။ (သို့ရာတွင် ယင်းအမျိုးသားများသည် သွေဖည်ငြင်းဆန် မနာခံခဲ့ကြသည့်အတွက် ပျက်စီးဆုံးရှုံး၍သွားခဲ့ကြလေသည်၊) စင်စစ် အလ္လာဟ်အရှင်မြတ်သည် (ဤပျက်စီးမှု)၌ ငင်းတို့အား မတရားသဖြင့် နှိပ်စက်တော်မူသည် မဟုတ်ပေ။ သို့ရာတွင် ငင်းတို့ကိုယ်တိုင် မိမိတို့ကိုယ်ကို နှိပ်စက်ခဲ့ကြပေသတည်း။

وَالْمُؤْمِنُوْنَ وَالْمُؤْمِنٰتُ بَعْضُهُمْ اَوْلِيَآءُ بَعْضٍ ۘ يَاْمُرُوْنَ بِالْمَعْرُوْفِ وَيَنْهَوْنَ عَنِ الْمُنْكَرِ وَيُقِيْمُوْنَ الصَّلٰوةَ وَيُؤْتُوْنَ الزَّكٰوةَ وَيُطِيْعُوْنَ اللّٰهَ وَرَسُوْلَهٗ ۗ اُولٰٓئِكَ

၇၁။ ထိုနည်းတူစွာ "မုအ်မင်န်" သက်ဝင်ယုံကြည်သောသူ ယောကျ်ား၊ မိန်းမတို့သည်လည်း (သာသနာရေးတွင်) အချင်းချင်းတဦးနှင့်တဦး အဆွေခင်ပွန်းများပင် ဖြစ်ကြကုန်၏။ ငင်းတို့သည် ကောင်းမြတ်သောကိစ္စများကိုအမိန့်ပေးကြလေသည်။ ငင်းပြင် စက်ဆုပ်ရွံရှာဖွယ်ရာများမှလည်း တားမြစ်ကြလေသည်။ ထိုမှတပါး ယင်းသူတို့သည် အမြဲတစေ "ဆွလာတ်" ဝတ်ပြုကြလေသည်။ ထို့ပြင်ငင်းတို့သည် "ဇကာတ်" တရားဝင်ဒါနကြေးကိုလည်း ပေးဆောင်ကြလေသည်။ ထိုနည်းတူစွာ ယင်းသူတို့သည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်များကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်၏ အမိန့်တော်များကိုလည်းကောင်း လိုက်နာကြလေသည်။

➤➤ အန္တရာယ်များကို မစဉ်းစားမဆင်ခြင်ပဲ အမှုမဲ့အမှတ်မဲ့နေ၍ လောကီစည်းစိမ်များတွင် နစ်မွန်းနေခဲ့ကြ၏။ မိုက်ဆိုးခဲ့ကြ၏။ နောက်ဆုံးတွင် နစ်ဘဝလုံး၌ ဆုံးရှုံးပျက်သုဉ်း၍ သွားခဲ့ကြလေသည်။ ဤမုနာဖစ်က်များသည်လည်း အတိတ်ခေတ် ပျက်သုန်းသွားခဲ့ကြသော ထိုအမျိုးသားများ၏ လမ်းစဉ်ကို လိုက်နာကျင့်သုံးလျက်ရှိကြပေရာ ဤမုနာဖစ်က်များ သည်လည်း နောက်ဆုံးတွင် ပျက်သုဉ်းသွားကြမည်သာဖြစ်သည်။ အတိတ်ခေတ်ရှိ အမျိုးသားများသည် ခွန်အားဗလ၊ ဥစ္စာခနေ၊ သားသမီးများဖြင့် ဤမုနာဖစ်က်များထက် ပိုမိုကြီးမား များပြားခဲ့ကြပါလျက် နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်တော်မှ မလွတ်မြောက်နိုင်ခဲ့ကြပေရာ ဤမုနာဖစ်က်များသည် အသို့လျှင် လွတ်မြောက်သွားနိုင်ကြအံ့နည်း။

سَيَرْحَمُهُمُ اللّٰهُ ۗ اِنَّ اللّٰهَ
عَزِيْزٌ حَكِيْمٌ ﴿٧١﴾

ဤသူများသည် အကြင်သူများပင်၊ အလ္လာဟ် အရှင်မြတ်သည် ထိုသူတို့အား မုချ *ကရုဏာပြုတော်မူပေမည်။* [၁] ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် ဘုန်းတန်ခိုးနှင့်ပြည့်စုံတော်မူသောအရှင်၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။ [၂]

وَعَدَ اللّٰهُ الْمُؤْمِنِيْنَ
وَالْمُؤْمِنٰتِ جَنّٰتٍ تَجْرِيْ
مِنْ تَحْتِهَا الْاَنْهٰرُ خٰلِدِيْنَ
فِيْهَا وَمَسٰكِنَ طَيِّبَةً
فِيْ جَنّٰتِ عَدْنٍ ۗ وَرِضْوَانٌ
مِّنَ اللّٰهِ اَكْبَرُ ۗ ذٰلِكَ هُوَ
الْفَوْزُ الْعَظِيْمُ ﴿٧٢﴾

၇၂။ အလ္လာဟ် အရှင်မြတ်သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူ ယောကျ်ားမိန်းမတို့အား၊ အကြင်ဥယျာဉ်များကို (ချီးမြှင့်တော်မူရန်) ကတိပြုထားတော်မူခဲ့လေသည်။ ထိုဥယျာဉ်များ၏အောက်မှ စမ်းရေချောင်းများ စီးတွေလျက် ရှိကြပေမည်။ (ထိုသူတို့သည်) ၎င်းဥယျာဉ်များတွင် ထာဝစဉ် နေထိုင်လျက် ရှိကြပေမည်။ ထို့ပြင် (ထိုအရှင်မြတ်သည်) ထာဝစဉ်တည်သောဥယျာဉ်များ၌ ကောင်းမွန်စင်ကြယ်သော ဗိမာန်များကို (ချီးမြှင့်တော်မူရန်)လည်း (ကတိပြုထားတော်မူခဲ့လေသည်။) ၎င်းပြင် *အလ္လာဟ်အရှင်မြတ်၏ကျေနပ်မှုမှာကား အကြီးကျယ်ဆုံးပင်* [၃] ဖြစ်ပေသည်။ ဤသည် ကြီးကျယ် မြင့်မြတ်လှစွာသော အောင်မြင်မှုပင်တည်း။

(၁) အထက်တွင် မုနာဖစ်က်များ၏ ယုတ်မာဆိုးသွမ်းမှုများအကြောင်း ပါရှိ၏။ ယခု ဤအာယတ်တော်တွင် ယင်းမုနာဖစ်က်များနှင့် လုံးဝဆန့်ကျင်ဘက်ဖြစ်သော မုအ်မင်န်တို့၏ဂုဏ်ပုဒ်များကို ယှဉ်ပြိုင်၍ မိန့်ဆို ထားတော်မူ၏။ မုနာဖစ်က်များသည် ကောင်းရာကို မြစ်တား၍ မကောင်းရာကို အားပေးကြသည်။ မုအ်မင်န်တို့ ကား ကောင်းရာကိုညွှန်၍ မကောင်းရာကို တားမြစ်ကြသည်။ မုနာဖစ်က်များသည် စေးနဲကြသည်၊ မုအ်မင်န်များ ကား ရက်ရောကြသည်၊ မုနာဖစ်က်များသည် အလှူဒါန မပေးကမ်းကြပေ။ မုအ်မင်န်များသည် လှူဒါန်းကြသည်။ မိမိတို့၏ဥစ္စာပစ္စည်းများထဲမှ စနစ်တကျ ဇကာတ်စသည်များကို ပေးလှူကြသည်။ မုနာဖစ်က်များသည် အလ္လာဟ်အရှင်မြတ်အား မေ့ပျောက်ထားကြသည်။မုအ်မင်န်တို့ကား နေ့စဉ်နှင့်အမျှ ဆွလာတ်ငါးကြိမ် ဝတ်ပြု၍ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရကြသည်။ မုနာဖစ်က်များသည် အရေးကိစ္စ အဝဝတွင် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်၏အမိန့်ဩဝါဒများကို သွေဖည်ငြင်းဆန်ကြသည်။

မုအ်မင်န်တို့မူကား အရေးကိစ္စအဝဝတွင် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်၏ အမိန့် ➢➢

➤➤ ဩဝါဒများနှင့်အညီ လိုက်နာကျင့်သုံးကြသည်။ ထို့အတွက်ကြောင့် မုနာဖစ်က်များသည် အလ္လာဟ် အရှင်မြတ်၏ကရုဏာတော်မှ ကင်းဝေး၍ မုအ်မင်န်တို့မူကား ထိုအရှင်မြတ်၏ အထူးကရုဏာတော်ကို ခံလှံကြရပေသည်။

⑫ (အလ္လာဟ်အရှင်မြတ်သည်) "အဒီဗွန်" (ဝါ) အရာခပ်သိမ်းတို့ကို လွှမ်းမိုးတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို ပြုစွမ်းနိုင်တော်မူသောအရှင် ဖြစ်တော်မူသည်။ သို့ဖြစ်ရာ ထိုအရှင်မြတ်သည် အကျိုးပေးခြင်း၊ အပြစ်ပေးခြင်းကိုလည်း ပြုစွမ်းနိုင်တော်မူသည်။ "ဟာကီမွန်" (ဝါ)အရာခပ်သိမ်းတို့ကို ထိုက်သင့်အားလျော်စွာ ၎င်းတို့၏နေရာဌာန၌ ထားရှိတော်မူသောအရှင် ဖြစ်တော်မူသည်။

⑬ လောကီ၊ လောကုတ္တရာဆိုင်ရာ ကျေးဇူးတော်များတွင် အကောင်းဆုံး၊ အကြီးဆုံးနှင့် အမြင့်မြတ်ဆုံးမှာ အလ္လာဟ်အရှင်မြတ်၏ ကျေနပ်နှစ်သက်တော်မူခြင်းပင် ဖြစ်သည်။ ဂျန္နတ်အမတ သုခဘုံတွင် စံမြန်းလိုမှုသည် လည်း၊ ထိုဂျန္နတ်သည် အလ္လာဟ်အရှင်မြတ်၏ ကျေနပ်နှစ်သက်တော်မူခြင်း၏ ဌာနဖြစ်ခြင်းကြောင့်သာ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် ဂျန္နတ်တွင် မုအ်မင်န်တို့အား ကာယသုခ၊ စိတ္တသုခ အဝဝကို ချီးမြှင့်ပေးသနားတော်မူမည် ဖြစ်သည်။ ယင်းသုခချမ်းသာများတွင် အကြီးဆုံးနှင့် အမြင့်မြတ်ဆုံးမှာ အလ္လာဟ် အရှင်မြတ်၏ ထာဝစဉ် ကျေနပ်နှစ်သက်မှုပင်ဖြစ်သည်။

သာဝကကြီး အဗူစအီဒ်ခွဒ်ရီ (ရသွေ့ယလ္လာဟုတအာလာအန်ဟု)သခင်ထံမှ ဤသို့ကြားသိရသည်၊ တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က ပြောပြတော်မူသည်မှာ အလ္လာဟ်အရှင်မြတ်သည် ဂျန္နတ်သားတို့အား 'အို . . . ဂျန္နတ်သားအပေါင်းတို့' ဟု ခေါ်တော်မူအံ့၊ ထိုအခါ ဂျန္နတ်သားတို့က ရိုသေလေးစားစွာဖြင့် 'အို . . . ကျွန်တော်မျိုးတို့၏အရှင် ရှေ့တော်မှောက်တွင် ကျွန်တော်မျိုးတို့ အသင့်ရောက်ရှိကြပါပြီ၊ ကောင်းကျိုးချမ်းသာ အဖြာဖြာသည် အရှင်မြတ်၏လက်တော်တွင်သာ ရှိပါသည်' ဟု လျှောက်ထားကြအံ့။ အလ္လာဟ်အရှင်မြတ်က 'အသင်တို့သည် ကျေနပ်ကြပြီလော' ဟု မေးမြန်းတော်မူအံ့၊ ထိုအခါ ဂျန္နတ်သားများက 'အို . . . အရှင် ကျွန်တော်မျိုးတို့၌ မကျေနပ်ရန် မည်သည့်အကြောင်းမျှ မရှိပါ၊ အရှင်မြတ်သည် မိမိဖန်ဆင်းထားတော်မူသော အရာများအနက် မည်သူတဦးတယောက်ကိုမျှ ချီးမြှင့်တော်မမူခဲ့သော ကျေးဇူးတော်ကို ကျွန်တော်မျိုးတို့အား ချီးမြှင့်ထားတော်မူပါသည်' ဟု လျှောက်ထားကြအံ့၊ ထို့နောက် အလ္လာဟ်အရှင်မြတ်က 'ငါအရှင်မြတ်သည် ထိုကျေးဇူးတော်ထက် ပိုမို ကောင်းမွန်မြင့်မြတ်သော ကျေးဇူးတော်ကို အသင်တို့အား ချီးမြှင့်တော်မမူရဘူးလော' ဟု မေးမြန်းတော်မူအံ့၊ ထိုအခါ ဂျန္နတ်သားများက ထိုကျေးဇူးတော်ထက် ကောင်းမွန်မြင့်မြတ်သော ကျေးဇူးတော်ကား အဘယ်ကျေးဇူးတော်ပါနည်း' ဟု လျှောက်ထားကြပြန်အံ့။ ထိုအခါ အလ္လာဟ်အရှင်မြတ်က 'ငါအရှင်မြတ်သည် အသင်တို့အပေါ်၌ ငါ၏ကျေနပ်မှုကို သက်ရောက်စေတော်မူမည်၊ ထို့နောက် ငါအရှင်မြတ်သည် အသင်တို့အား ဘယ်သောအခါ၌မျှ အမျက်တော်ထားတော်မူမည် မဟုတ်' ဟု မိန့်ကြားတော်မူအံ့။ အစ်ဗ်နုကဆီရ်။ အ-၂။ စ-၃၇၀။

တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က ပြောကြားတော်မူခဲ့သည်မှာ ဂျန္နတ်သားများသည် ဂျန္နတ်အတွင်းသို့ ဝင်ကြသောအခါ အလ္လာဟ်အရှင်မြတ်က "အသင်တို့သည် အခြားတစုံတရာ အလိုရှိကြသေးသလော၊ ငါအရှင်မြတ် အသင်တို့အား ထပ်မံပိုမို ချီးမြှင့်တော်မူမည်' ဟု မေးမြန်းတော်မူအံ့။

ထိုအခါ ဂျန္နတ်သားများက "အို . . . ကျွန်တော်မျိုးတို့၏အရှင်၊ ကျွန်တော်မျိုးတို့အား အရှင်မြတ် ချီးမြှင့်ထားတော်မူသော အရာထက် ပိုမို ကောင်းမွန်မြင့်မြတ်သော အရာကား အဘယ်အရာပါနည်း" ဟု လျှောက်ထားကြအံ့။ ထိုအခါ အလ္လာဟ် အရှင်မြတ်က "ငါ၏ ကျေနပ်မှုသည် အကြီးဆုံး၊ ➤➤

يَٰٓأَيُّهَا ٱلنَّبِيُّ جَٰهِدِ ٱلْكُفَّارَ وَٱلْمُنَٰفِقِينَ وَٱغْلُظْ عَلَيْهِمْ ۚ وَمَأْوَىٰهُمْ جَهَنَّمُ ۖ وَبِئْسَ ٱلْمَصِيرُ ﴿٧٣﴾

၇၃။ အို-နဗီတမန်တော်၊ အသင်သည် 'ကာဖိရ်' သွေဖည်ငြင်းပယ်သူတို့အားလည်းကောင်း၊ 'မုနာဖစ်က်' မွတ်စ်လင်မ် အယောင်ဆောင်သူတို့အားလည်းကောင်း၊ *ဂျိဟာဒ်ပြုပါလေ။* [၁] ထို့ပြင် ၎င်းတို့အပေါ်၌ အသင်သည် ပြင်းထန်ကျပ်တည်းမှုကို ပြုပါလေ။ ထိုမှတပါး ၎င်းတို့၏ ခိုကိုးရာဌာနသည် 'ဂျဟန္နမ်' ငရဲဘုံသည်ပင်ဖြစ်သည်။ အမှန်သော်ကား၊ ထိုစခန်းသည် အလွန် ဆိုးရွားလှပေသည်တကား။

➤➤ အကောင်းဆုံး အမြင့်မြတ်ဆုံးဖြစ်သည်" ဟု မိန့်ကြားတော်မူအံ့။ အစ်ဗ်နူကဆီရ်။ အ-၂။ စ-၃၇၀။

အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့နှင့်တကွ မုအ်မင်န် အားလုံးတို့အား ဤသည့် ကြီးကဲမြင့်မြတ် ထူးကဲလှသည့် ကျေးဇူးတော်ကို ချီးမြှင့်ပေးသနားတော်မူပါစေသတည်း။ (အာမီးန်)

(၁) 'ဂျိဟာဒ်' ၏အဓိပ္ပာယ်မှာ 'မနုစ်မြို့ဖွယ်ရာ ကိစ္စတရပ်ကို တွန်းလှန်ကာကွယ်ရန်အတွက် အစွမ်းကုန် ကြိုးပမ်းအားထုတ်ခြင်း" ဟူ၍ဖြစ်သည်။ ဤသို့ကြိုးပမ်းအားထုတ်ခြင်းသည် တခါတရံ လက်နက်ဖြင့် ဆောင်ရွက်ရ၏။ တခါတရံ နှုတ်ဖြင့် ဆောင်ရွက်ရ၏။ တခါတရံ ကလောင်ဖြင့် ဆောင်ရွက်ရ၏။ တခါတရံ အခြား တနည်းနည်းဖြင့် ဆောင်ရွက်ရ၏။

စိတ်တွင်းမှမပါ နှုတ်ဖြင့်သာ အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ကြောင်း ထုတ်ဖော်ပြောဆို နေသော မွတ်စ်လင်မ်အယောင်ဆောင် မုနာဖစ်က်များနှင့် လက်နက်ဖြင့် ဂျိဟာဒ်ပြုလုပ်ရန် မွတ်စ်လင်မ်တို့အား ဥလွန်မ်ဟူရ် အွန်မွတ် ခေါ် အာလင်မ်ပညာရှင် သုခမိန် အကြီးအကဲအများစုက ခွင့်မပြုခဲ့ကြပေ။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)လက်ထက်တော်တွင်လည်း မုနာဖစ်က်များအား လက်နက်ဖြင့် ဂျိဟာဒ်ပြုလုပ်ခဲ့ သည့် အဖြစ်အပျက်တစုံတရာ မပေါ်ပေါက်ခဲ့ပေ။ ထို့အတွက်ကြောင့် ဤအာယတ်တော်တွင် ဂျိဟာဒ်၏ အနက်အဓိပ္ပာယ်ကို ကျယ်ပြန့်စွာ ဖွင့်ဆိုထားရှိခြင်းဖြစ်သည်။ သို့မှသာလျှင် လက်နက်ဖြင့်သော်လည်းကောင်း၊ နှုတ်ဖြင့်သော်လည်းကောင်း၊ ကလောင်ဖြင့်သော်လည်းကောင်း၊ အခြေအနေအရ သင့်တော်သလို ဂျိဟာဒ် ပြုလုပ်နိုင်ပေမည်။

အချို့အာလင်မ်ပညာရှင်များက အကယ်၍ မုနာဖစ်က်များ၏ 'နိဖာက်' မွတ်စ်လင်မ် အယောင် ဆောင်မှုသည် လုံးဝထင်ရှားလာလျှင် ထိုသို့သော မုနာဖစ်က်များအား လက်နက်ဖြင့် ဂျိဟာဒ် ပြုလုပ်နိုင်သည်ဟု ယူဆကြသည်။

တဗူးက် စစ်ပွဲတွင် မုနာဖစ်က်တို့၏ 'နိဖာက်' သည် အတော်ပင် ပေါ်လွင်ထင်ရှား၍ လာခဲ့လေသည်။ ထို့အတွက်ကြောင့်ပင် ဤအာယတ်တော်တွင် ၎င်းတို့နှင့်ပတ်သက်၍ ယခင်ကထက် ပိုမိုကျပ်တည်းစွာ ဆက်ဆံရန် မိန့်ဆိုထားတော်မူခြင်း ဖြစ်သည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် သဘာဝအလျောက် အလွန်တရာမျှ စိတ်နေ သဘောထား ပျော့ပျောင်း နူးညံ့သိမ်မွေ့တော်မူ၏။ ကြည့်-ကုရ်အာန်(၃:၁၅၈)။ ထို့ပြင်တဝ အလ္လာဟ် အရှင်မြတ်ကလည်း တမန်တော်မြတ်အား "အသင်သည် မိမိနှင့်အတူတကွရှိကြသော မုအ်မင်န်များ ➤➤

၇၄။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အား၊ တိုင်တည်၍ မိမိတို့သည် (ထိုစကားကို) *မပြောဆိုခဲ့ကြပါဟု* [၁] ဆိုခဲ့ကြလေသည်၊ အမှန်စင်စစ်သော်ကား၊ ၎င်းတို့သည် "ကုဖ်ရ်" မိစ္ဆာဝါဒစကားကို မုချ ပြောဆိုခဲ့ကြလေသည်။ ထို့ပြင်၎င်းတို့သည် မိမိတို့ (အယောင်ဆောင်) မွတ်စ်လင်မ်ဖြစ်ခဲ့ကြပြီးနောက် (မျက်မြင်အားဖြင့်လည်း) သွေဖည်ငြင်းပယ်ခဲ့ကြလေသည်။ ထိုမျှမကသေး၊ ၎င်းတို့သည် *အကြင်ကိစ္စတရပ်ကိုလည်း ပြုလုပ်ရန် ကြံရွယ်ခဲ့ကြလေသည်။* [၂] သို့ရာတွင် ၎င်းတို့သည် မအောင်မြင်ခဲ့ကြပေ။

يَحْلِفُونَ بِاللَّهِ مَا قَالُوا وَلَقَدْ قَالُوا كَلِمَةَ الْكُفْرِ وَكَفَرُوا بَعْدَ إِسْلَامِهِمْ وَهَمُّوا بِمَا لَمْ يَنَالُوا وَمَا نَقَمُوا إِلَّا أَنْ أَغْنَاهُمُ اللَّهُ وَرَسُولُهُ

---

➤➤ အဖို့ မိမိ၏အတောင်ကို နှိမ့်ချပါ" (ဝါ) "၎င်းတို့အား သနားကြင်နာပါ" ဟူ၍ အမိန့်တော်ပေးထားတော်မူခဲ့လေသည်။ ကြည့်-ကုရ်အာန် (၂၆း၂၁၅)။

မုနာဖစ်က်များသည် မျက်မြင်အားဖြင့် မုအ်မင်န်များတွင် ပါဝင်နေထိုင်လေ့ရှိခဲ့ကြ၏။ ထို့အတွက်ကြောင့် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ၎င်းတို့နှင့်ဆက်ဆံ ရာတွင် လျစ်လျူပြုတော်မူလေ့ရှိခဲ့သည်။ နူးညံ့ပျော့ပျောင်းစွာပင် ဆက်ဆံတော်မူလေ့ရှိခဲ့သည်။

သို့ရာတွင် တဗူးက်စစ်ပွဲ၌ မုနာဖစ်က်များသည် အရှက် အကြောက်ကင်းမဲ့စွာဖြင့် မိမိတို့၏ မလိုမုန်းတီးမှု၊ ရန်ငြိုးထားမှုများကို အတည့်အလင်း ထုတ်ဖော်ပြသခဲ့ ကြလေသည်။ ယင်းမုနာဖစ်က်များသည် ယဉ်ကျေးနူးညံ့သိမ်မွေ့စွာ ဆက်ဆံနေခြင်းဖြင့် နာခံကြမည်မဟုတ်ပေ။ ထို့အတွက်ကြောင့် ၎င်းတို့နှင့် ကျပ်တည်းစွာ ဆက်ဆံရန် အမိန့်တော်ချမှတ်တော်မူခြင်းဖြစ်သည်။

"ဂျိဟာဒ်" ဟူသော ပုဒ်သည် ပြိုင်ဆိုင်တိုက်ခိုက်ခြင်းအနက်ပေးသော "ကိတာလ်" ဟူသောပုဒ်နှင့် အဓိပ္ပာယ်တူ မဟုတ်ပေ။ "ကိတာလ်" သည် "ဂျိဟာဒ်" ၏ တစိတ်တဒေသမျှသာဖြစ်သည်။

ကာဖိရ်များနှင့် ဂျိဟာဒ်ပြုလုပ်ခြင်းသည် တနည်းဖြစ်၏၊ မုနာဖစ်က်များနှင့် ဂျိဟာဒ်ပြုလုပ်ခြင်းသည် တဖုံဖြစ်၏။ မတူချေ။ ကာဖိရ်များနှင့် ပြုလုပ်ရသော ဂျိဟာဒ်သည် လက်နက်အားဖြင့်ဖြစ်သည်။ မုနာဖစ်က်များနှင့် ပြုလုပ်ရသော ဂျိဟာဒ်သည် နှုတ်အားဖြင့်လည်းကောင်း၊ လက်တွေ့ဆက်ဆံခြင်းအားဖြင့်လည်းကောင်း ဖြစ်သည်။ ဤသည် မုဟက္ကိကီန် ပညာရှင် သုတေသီတို့၏ ယူဆချက်ဖြစ်သည်။

(၁) မုနာဖစ်က်များသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အားလည်းကောင်း၊ အစ္စလာမ်သာသနာကိုလည်းကောင်း၊ နောက်ကွယ်ရာ၌ သွားပုပ်လေလွင့် အယုတ္တ အနတ္တမိစ္ဆာဝါဒစကားများ ပြောဆိုစော်ကားလေ့ရှိခဲ့ကြသည်။ ဤသည့်အကြောင်းကို ကုရ်အာန်ကျမ်းမြတ်၏ မုနာဖစ်က်များအကြောင်း ပါရှိသည့်ကဏ္ဍ (၆၃း၁-၁၁)တွင်လည်း မိန့်ဆိုထားတော်မူသည်။ မွတ်စ်လင်မ်တဦးတယောက်က မုနာဖစ်က်များ ပြောဆိုကြသည့် စကားများကို တမန်တော်မြတ်ထံ သွားရောက်ပြောကြားလျှင် ယင်းမုနာဖစ်က်များက ကျိန်ဆို၍ "ကျွန်တော်များ ဤသို့၊ ထိုသို့မပြောဆိုမိကြပါ" ဟုငြင်းဆိုလေ့ရှိကြလေသည်။ မုနာဖစ်က်များသည် ကုဖ်ရ်၏စကား၊ ➤➤

مِنْ فَضْلِهِۦ ۚ فَإِن يَتُوبُوا۟ يَكُ خَيْرًا لَّهُمْ ۖ وَإِن يَتَوَلَّوْا۟ يُعَذِّبْهُمُ ٱللَّهُ عَذَابًا أَلِيمًا

စင်စစ်သော်ကား၊ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ ရစူလ်တမန်တော်က မိမိကျေးဇူးတော်နှင့် ၎င်းတို့အား ချမ်းသာကြွယ်ဝစေတော်မူခဲ့သည်မှအပ၊ အခြားတစုံတရာကိုမျှ *တုံ့ပြန်လက်စားချေခဲ့ကြသည်မဟုတ်ပေ။* ၁

▶▶ မိစ္ဆာဝါစာစကားများကို ပြောဆိုခဲ့ကြသည့်အကြောင်း ကာဖိရ်မုရှ်ရစ်က်တို့၏ နူတ်မှသာထွက်ဆိုနိုင်သည့် မိစ္ဆာဝါစာစကားများကို မုနာဖစ်က်များသည် တမန်တော်မြတ်နှင့် ပတ်သက်၍လည်းကောင်း၊ အစ္စလာမ်နှင့်စပ်လျဉ်း၍လည်းကောင်း ပြောဆိုခဲ့ကြသည့်အကြောင်းကို ဤအာယတ်တော်တွင် အတည့်အလင်း ဖွင့်ဟမိန့်ဆို ထားတော်မူသည်။

(၂) တဗူးက်စစ်ပွဲမှ အပြန်တွင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် စစ်သည်တော်များနှင့် ခွဲခွာ၍ တောင်ကြားလမ်းတခုတွင် ခရီးသွားနေတော်မူခိုက်၊ မုနာဖစ်က် (၁၂)ဦးခန့်တို့သည် မိမိတို့၏ မျက်နှာများကို ဖုံးကွယ်၍ ညဉ့်အချိန်တွင် တမန်တော်မြတ်အား လုပ်ကြံသတ်ဖြတ်ပြီး တောင်အောက်သို့ ပြစ်ချရန် ကြံစည်ခဲ့ကြလေသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့်အတူ သာဝကကြီး ဟုဇိုင်ဖဟ်နှင့် သာဝကကြီး အမ္မာရ်(ရဲဒွေယလ္လာဟု တအာလာအန်ဟုမာ)တို့ပါရှိခဲ့ကြ၏။ မုနာဖစ်က်များသည် သာဝကကြီး အမ္မာရ်အား ဝိုင်းဝန်းထားခဲ့ကြ၏။ သို့ရာတွင် သာဝကကြီး ဟုဇိုင်ဖဟ်သခင်သည် မုနာဖစ်က်များအား အပြင်းအထန် ရိုက်ပုတ်၍ ၎င်းတို့စီးနင်းလာခဲ့ကြသော ကုလားအုတ်များကို ကစဉ့်ကလျား ထွက်ပြေးစေခဲ့လေသည်။

မုနာဖစ်က်များသည် မိမိတို့၏မျက်နှာများကို ဖုံးကွယ်ထားကြသည့်အတွက် သာဝကကြီးဟုဇိုင်ဖဟ်နှင့် သာဝကကြီး အမ္မာရ်(ရဲဒွေယလ္လာဟုတအာလာအန်ဟုမာ)တို့သည် မုနာဖစ်က်တို့အား မမှတ်မိနိုင်ခဲ့ကြပေ။ သို့ရာတွင် တမန်တော်မြတ်က သာဝကကြီးဟုဇိုင်ဖဟ်နှင့် သာဝကကြီးအမ္မာရ်တို့အား မုနာဖစ်က်များ၏ အမည်နာမများကို အသီးသီးပြောပြတော်မူပြီး၊ ဤသည့် အမည်နာမများကို မည်သူ တဦးတယောက်အားမျှ ထုတ်ဖော်မပြောရန် ပိတ်ပင်တားမြစ်တော်မူခဲ့လေသည်။ ဤအာယတ်တော်တွင်၊ "၎င်းပြင် ထိုသူများသည် အကြင်ကိစ္စတရပ်ကိုလည်း ပြုလုပ်ရန်ကြံစည်ခဲ့ကြသေးသည်။ သို့ရာတွင် ၎င်းတို့သည် မအောင်မြင်ခဲ့ကြပေ" ဟု ဤသည့်ဖြစ်ရပ်ကိုပင် ရည်ညွှန်းမိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

အချို့ အာလင်မ် ပညာရှင်များ၏ ယူဆချက်တရပ်မှာ တချိန်သော် မွတ်စ်လင်မ် စစ်သည်များတွင် အချင်းချင်း ရန်မီးပွားခဲ့၏။ ထိုအချိန်တွင် မုနာဖစ်က်များသည် နည်းပရိယာယ် အမျိုးမျိုး အသုံးပြု၍ အန်ဆွာရ် နှင့် မုဟာဂျိရီန် တို့၏စပ်ကြားတွင် သွေးခွဲရန် ကြံစည် ကြိုးပမ်းခဲ့ကြ၏။ သို့ရာတွင် တမန်တော်မြတ်က ကြားဝင်၍ ဖြန်ဖြေ ပေးတော် မူလိုက်သဖြင့်၊ အဆိုပါရန်မီးမှာ ပြေငြိမ်းသွားခဲ့လေသည်။ မုနာဖစ်က်တို့၏ အကြံအစည်သည် အချည်းနှီးဖြစ်သွားခဲ့လေသည်။ ဤအာယတ်တော်တွင် ဤသည့်ဖြစ်ရပ်ကို ရည်ညွှန်းမိန့်ဆိုထားတော်မူခြင်း ဖြစ်သည်။

(၁) တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဆုပန်ကြားချက်အရ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် အချို့မုနာဖစ်က်များအား ကုံလုံကြွယ်ဝစေတော်မူခဲ့လေသည်။ ယင်းမုနာဖစ်က်များသည် အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ဖြင့် မိမိတို့အပေါ်၌ တင်ရှိနေသောကြွေးမြီများကို ပေးဆပ်နိုင်ခဲ့ကြ ▶▶

فِى الدُّنْيَا وَالْاٰخِرَةِ ۚ وَمَا لَهُمْ فِى الْاَرْضِ مِنْ وَّلِىٍّ وَّلَا نَصِيْرٍ ﴿٧٤﴾

သို့ဖြစ်ပေရာ အကယ်၍ ၎င်းတို့သည် ဝန်ချတောင်းပန်ကြပါလျှင် ၎င်းတို့အဖို့သာလျှင် အကောင်းဖြစ်ပေမည်။ သို့ရာတွင် အကယ်၍ ၎င်းတို့သည် မျက်နှာလွှဲဖယ်ကျောခိုင်း၍ သွားကြပါမူ၊ အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့အား ဤပစ္စုပ္ပန်လောကီဘဝ၌လည်းကောင်း၊ နောင်တမလွန်ဘဝ၌လည်းကောင်း၊ ပြင်းပြနာကျင်စေသော ပြစ်ဒဏ်ကို ပေးတော်မူအံ့၊ ထိုမှတပါး ၎င်းတို့အဖို့ ပထဝီမြေပြင်၌ အဆွေခင်ပွန်းဟူ၍လည်းကောင်း၊ ကူညီစောင်မမည့်သူဟူ၍လည်းကောင်း၊ မည်သူတဦးတယောက်မျှ ရှိချေမည် မဟုတ်ပေတကား။

وَمِنْهُمْ مَّنْ عٰهَدَ اللّٰهَ لَئِنْ اٰتٰىنَا مِنْ فَضْلِهٖ لَنَصَّدَّقَنَّ

၇၅။ ၎င်းပြင်၊ ထိုသူတို့အနက် အကြင်သူတို့သည်လည်း ရှိကြကုန်၏။ ထိုသူတို့သည် အလ္လာဟ် အရှင်မြတ်အား (ဤသို့)ပဋိညာဉ် ပေးခဲ့ကြလေသည်။

---

➤➤ လေသည်။ မွတ်စ်လင်မ်များနှင့်အတူ ရောနှော၍ နေကြသည့်အတွက် "ဃနီမတ်" လက်ရပစ္စည်းများထဲမှလည်း ဝေစုဝေပုံများ ရရှိခဲ့ကြပေသည်။ တမန်တော်မြတ်၏ "ဗရကတ်" မင်္ဂလာကြောင့် ၎င်းတို့၏ လယ်ယာများတွင် အသီးအနှံများလည်း ကောင်းစွာ ထွက်ခဲ့လေသည်။ ဤသည့် ကျေးဇူးတော်များကို ကျေးဇူးတင်ကြရမည့်အစား၊ ယင်း မုနာဖစ်ကျ်များသည် ကျေးဇူးကန်းခဲ့ကြသည်။ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်အား သစ္စာဖောက်ခဲ့ကြလေသည်။ တမန်တော်မြတ်နှင့်တကွ မွတ်စ်လင်မ်တို့အား အမျိုးမျိုး ညှဉ်းပန်းနှိပ်စက်ခဲ့ကြလေသည်။ သို့တစေလည်း အကယ်၍ ယင်းမုနာဖစ်ကျ်များသည် ယခုလည်း ဝန်ချတောင်းပန်၍ မိမိတို့၏ ဆိုးသွမ်းမှုများနှင့် ကျေးဇူးကန်းမှုများကို ရှောင်ကြဉ်ကြလျှင် ၎င်းတို့အဖို့ အကောင်းပင်ဖြစ်သည်၊ သို့မဟုတ်ပါက အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့အား ဤပစ္စက္ခဘဝတွင် လည်းကောင်း၊ နောင်တမလွန်ဘဝတွင်လည်းကောင်း အလွန် ပြင်းထန်သောပြစ်ဒဏ် ပေးတော်မူမည်ဖြစ်သည်။ ထိုအချိန်တွင် ၎င်းတို့အား၊ ထိုအရှင်မြတ်၏ ပြစ်ဒဏ်တော်မှ ကာကွယ်ပေးမည့်သူဟူ၍ တဦးတယောက်မျှရှိမည်မဟုတ်ပေ။

အချို့ ကျမ်းချက်များတွင် လာရှိသည်မှာ "ဂျုလာစ်" အမည်ရှိသော ပုဂ္ဂိုလ်တဦးသည် ဤသည့် အာယတ်တော်ကို ကြားနာရသောအခါ စိတ်စေတနာ ဖြူစင်စွာဖြင့် ဝန်ချတောင်းပန်၍ အသက်ထက်ဆုံး မိမိ၏ အသက်ကိုပင် အစ္စလာမ့် အရေးကိစ္စများနှင့် စပ်လျဉ်း၍ သက်စွန့်ကြိုးပမ်း ဆောင်ရွက်ရန် လှူဒါန်းခဲ့လေသည်။

وَلَنَكُونَنَّ مِنَ الصّٰلِحِيْنَ ﴿٧٥﴾

"အကယ်၍ ထိုအရှင်မြတ်သည် ကျွန်တော်မျိုးတို့အား (မိမိ၏ကျေးဇူးတော်ဖြင့်)(ဥစ္စာပစ္စည်းကို) ချီးမြှင့်ပေးသနားတော်မူခဲ့ပါလျှင် ကျွန်တော်မျိုးတို့သည် ကောင်းစွာ လှူဒါန်းကြပါမည်။ ၎င်းပြင် ကျွန်တော်မျိုးတို့သည် ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်ကြသော သူတော်စင် သူတော်ကောင်းတို့တွင် မုချ ပါဝင်ကြပါမည်။" ၁

فَلَمَّآ اٰتٰىهُمْ مِّنْ فَضْلِهٖ بَخِلُوْا بِهٖ وَتَوَلَّوْا وَّهُمْ مُّعْرِضُوْنَ ﴿٧٦﴾

၇၆။ တဖန် ထိုအရှင်မြတ်သည် ၎င်းတို့အား မိမိကျေးဇူးတော်ကို ချီးမြှင့် ပေးသနားတော်မူသောအခါ၊ ၎င်းတို့သည် ကျေးဇူးတော်ကို (ပေးကမ်းလှူဒါန်းခြင်း မပြုပဲ)စေးနှဲကြကုန်၏။ ထို့ပြင် ၎င်းတို့သည် မျက်နှာလွှဲဖယ် ကျောခိုင်းခဲ့ကြလေသည်။ စင်စစ်သော်ကား ၎င်းတို့သည် တိမ်းရှောင်လေ့ရှိကြသူများပင် ဖြစ်ကြကုန်သတည်း။

---

(၁) ဆအ်လဗဟ် အိဗ်နု ဟာတွစ်ဗ် အန်ဆွာရီက တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ကျွန်တော်မျိုးအား ကုံလုံကြွယ်ဝသူတဦးဖြစ်လာအောင် ဆုပန်ကြားပေးတော်မူပါ' ဟု မေတ္တာရပ်ခံခဲ့၏။ တမန်တော်မြတ်က 'အို . . . ဆအ်လဗဟ်၊ အကြင်အနည်းငယ်မျှသောပစ္စည်းသည် ထိုပစ္စည်းနှင့် စပ်လျဉ်း၍ အသင်သည် အလ္လာဟ်အရှင်မြတ်အား ကျေးဇူးတော်ဆပ်နိုင်၏။ ထိုအနည်းငယ်သော ပစ္စည်းများသည် အကြင်၏များစွာသော ပစ္စည်းထက်ကောင်း၏။ ထိုများစွာသောပစ္စည်းနှင့် စပ်လျဉ်း၍ အသင်သည် တာဝန်မကျေပွန်နိုင်ပေ' ဟု ဖြေကြားတော်မူခဲ့၏။ ထို့နောက် တဖန် ဆအ်လဗဟ်က တမန်တော်မြတ်အား ယခင်အတိုင်းပင် မေတ္တာရပ်ခံပြန်၏။ တမန်တော်မြတ်က 'အို-ဆအ်လဗဟ် အသင်သည်ကျွန်ုပ်၏ ဖဝါးခြေထပ်လိုက်နာကျင့်သုံးခြင်းကို မနှစ်သက်လေသလော' ဟု ဖြေကြားတော်မူပြန်၏။ တမန်တော်မြတ် ငြင်းပယ်တော်မူသည်နှင့်အမျှ ဆအ်လဗဟ်၏မေတ္တာရပ်ခံချက်သည် ပိုမိုများပြားလာခဲ့လေသည်။ ဆအ်လဗတ်က 'အကယ်၍ အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးအား ဥစ္စာပစ္စည်းများ ချီးမြှင့်ပေးသနားတော်မူပါလျှင် ကျွန်တော်မျိုးသည် အတိအကျ တာဝန်ကျေပွန်အောင် ဆောင်ရွက်ပါမည်' ဟု ကတိပြုလေသည်။

မည်သို့မျှ သွန်သင်ဆုံးမသြဝါဒပေး၍ မရသည့်အဆုံး၌ တမန်တော်မြတ်သည် ဆအ်လဗဟ်အတွက် ဆုပန်ကြား၍ ပေးတော်မူလေသည်။ တမန်တော်မြတ် ဆုပန်ကြားပေးတော်မူသဖြင့် ဆအ်လဗဟ်၏ဆိတ်များသည် အထူးတလည် တိုးပွားများပြားလာခဲ့သည့်အတွက် ဆအ်လဗဟ်သည် မဒီနာမြို့အတွင်း၌ မနေသာတော့ပဲ မြို့ပြင်ထွက်၍ ရွာတရွာတွင် နေရလေသည်။ ဆိတ်များအဆမတန် တိုးပွားများပြားလာသည့်အတွက် ဆအ်လဗဟ်သည် အလုပ်များပြားလာပြီးလျှင် 'ဂျမာအတ်' အစုအရုံးနှင့်ဆွလာတ်ဝတ်ပြုမှု။ ဂျုမုအဟ်(သောကြာ) ➤➤

فَاَعْقَبَهُمْ نِفَاقًا فِىْ قُلُوْبِهِمْ اِلٰى يَوْمِ يَلْقَوْنَهٗ بِمَآ اَخْلَفُوا اللّٰهَ مَا وَعَدُوْهُ وَبِمَا

၇၇။ သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် ထိုသူများ၏ စိတ်နှလုံးများတွင် ထိုအရှင်မြတ်နှင့် ထိုသူများတွေ့ဆုံကြမည့်နေ့တိုင်အောင် "နိဖာက်" (မှတ်စ်လင်မ်အရေခြုံမှု)ကို (ထည့်သွင်းတော်မူခြင်းအားဖြင့်) ၎င်းတို့အား ပြစ်ဒဏ်ခတ်တော်မူခဲ့လေသည်။

---

➤➤ ဆွလာတ်ဝတ်ပြုမှုများကိုပင် တဖြည်းဖြည်း တစတစ လက်လွှတ်လာခဲ့လေသည်။

ရက်အတန်ကြာသောအခါ တမန်တော်မြတ်ထံမှ ဇကာတ်ကောက်ခံရန် အမှုထမ်းများ ဆအ်လဗဟ်ထံသို့ ရောက်လာကြသောအခါ ဆအ်လဗဟ်က "ဇကာတ်သည် ဂျဇ်ယဟ်လူခွန်တော်၏ ညီမဖြစ်သည်ဟု ထင်မြင်ရလေသည်" ဟု ဆိုခဲ့လေသည်။ ဆအ်လဗဟ်သည် ဇကာတ်မပေးရန် တကြိမ်နှစ်ကြိမ် အကြောင်းရမယ်ရှာကာ အချိန်ဆွဲပြီး နောက်ဆုံးတွင် ဇကာတ်ပေးခြင်းကို လုံးဝငြင်းပယ်ခဲ့လေသည်။ ယင်းသို့ ငြင်းပယ်လိုက်သည့်အခါ တမန်တော်မြတ်က(ဝိုင်ဟဆအ်လဗဟ်) "သြော်... ဆအ်လဗဟ်၊ ဆအ်လဗဟ်၊ ဆအ်လဗဟ်" ဟု သုံးကြိမ်တိုင်တိုင် ဝမ်းနည်းစွာဖြင့် ဆိုတော်မူလေသည်။ ထို့နောက် အထက်ပါ အာယတ်တော်များ ကျရောက်လာခဲ့လေသည်။

ဤကဲ့သို့ ဆအ်လဗဟ်နှင့် ပတ်သက်၍ တမန်တော်မြတ်၏ ဝမ်းနည်းစကားနှင့် အာယတ်တော်များ ကျရောက်လာခဲ့သည့်အကြောင်း ဆအ်လဗဟ်ထံ ၎င်း၏ဆွေမျိုးသားချင်းများက သွားရောက်ပြောကြားသည့်အခါ ဆအ်လဗဟ်သည် စိတ်ဓာတ်မကြည်သာပဲလျက် ဇကာတ်ယူဆောင်၍ တမန်တော်မြတ်ထံ ရောက်ရှိလာခဲ့လေသည်။ တမန်တော်မြတ်က "အလ္လာဟ်အရှင်မြတ်သည် အသင်၏ဇကာတ်ကို လက်မခံရန် ကျွန်ုပ်အား တားမြစ်ထားတော်မူသည်" ဟု ပြောကြားတော်မူလိုက်လေသည်။ ထိုအခါ ဆအ်လဗဟ်သည် အထူးပင် ဝမ်းနည်းကြေကွဲလေသည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က ၎င်း၏ဇကာတ်ကို လက်ခံတော်မမူခြင်းသည် ၎င်းအဖို့ အလွန်တရာမျှ ရှက်ဖွယ်ကောင်းလှပေသည်။ ဤသည်ကို တွေးကာတွေးကာ ဆွေး၍ မိမိ၏ ဦးခေါင်းပေါ်သို့ မြေမှုန့်များပစ်တင်လေတော့သည်။

ဆအ်လဗဟ်သည် အသို့ပင် ကြေကွဲဝမ်းနည်းနေသော်လည်း ၎င်း၏စိတ်တွင်းတွင် "နိဖာက်" မှတ်စ်လင်မ်အရေခြုံမှုသည် ကိန်းအောင်းလျက်ရှိနေသည်ကား အမှန်ပင်ဖြစ်ပေသည်။ တမန်တော်မြတ် ဝဖာတ်ဖြစ်တော်မူပြီးသည့်နောက် ဆအ်လဗဟ်သည် သာဝကကြီး အဗူဗဟ်က်ရ် (ရဒွေယလ္လာဟု တအာလာအန်ဟု)ထံသို့ ဇကာတ်ယူဆောင်၍ ရောက်ရှိလာခဲ့ပြန်သည်။ သာဝကကြီး အဗူဗဟ်က်ရ်သည်လည်း ဆအ်လဗဟ်၏ ဇကာတ်ကို လက်မခံခဲ့ပေ။ ထို့နောက် သာဝကကြီးအုမရ်(ရဒွေ့ယလ္လာဟု တအာလာအန်ဟု)ထံသို့ ယူဆောင်လာခဲ့ပြန်၏။ သာဝကကြီးအုမရ်ကလည်း လက်မခံခဲ့ပေ။ ထို့နောက် တဖန် သာဝကကြီး အွတ်ဆ်မာန်(ရဒွေ့ယလ္လာဟု တအာလာအန်ဟု)ထံသို့ ယူဆောင်လာခဲ့ပြန်၏။ သာဝကကြီး အွတ်ဆ်မာန်ကလည်း လက်မခံခဲ့ပေ။ သာဝကကြီး အသီးသီးက "တမန်တော်မြတ် ကိုယ်တော်တိုင် လက်မခံသောပစ္စည်းတခုကို ကျွန်ုပ်တို့သည် မည်သို့မျှ လက်မခံနိုင်ကြပါ" ဟု ပြောဆိုခဲ့ကြပေသည်။ နောက်ဆုံးတွင် ဆအ်လဗဟ်သည် "မုနာဖစ်က်" "မှတ်စ်လင်မ်အရေခြုံ" အဖြစ်နှင့်ပင် သာဝကကြီး အွတ်ဆ်မာန် သခင်လက်ထက်တွင် အသေဆိုးနှင့် သေဆုံးသွားခဲ့ရလေသတည်း။

كَانُوْا يَكْذِبُوْنَ ﴿٧٧﴾

အဘယ်ကြောင့်ဆိုသော် ၎င်းတို့သည် အလ္လာဟ် အရှင်မြတ်အား မိမိတို့ ပေးခဲ့ကြသောကတိဝန်ခံချက်ကို ဖောက်ခဲ့ကြသည့်ပြင်၊ *မုသားပြောဆိုလေ့ ရှိခဲ့ကြသောကြောင့်ပင်။* ၁

أَلَمْ يَعْلَمُوْٓا أَنَّ اللّٰهَ يَعْلَمُ سِرَّهُمْ وَنَجْوٰىهُمْ وَأَنَّ اللّٰهَ عَلَّامُ الْغُيُوْبِ ﴿٧٨﴾

၇၈။ အလ္လာဟ် အရှင်မြတ်သည် ထိုသူတို့၏ လျှို့ဝှက်ချက်ကိုလည်းကောင်း၊ ထိုသူတို့၏ လျှို့ဝှက်နှီးနှောချက်ကိုလည်းကောင်း မလွဲဧကန် သိရှိတော်မူသည်ကို ယင်းသူတို့သည် မသိကြလေသလော။ ထို့ပြင် ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် ဖုံးကွယ်လျက်ရှိသည်တို့ကို ကောင်းစွာသိတော်မူသော အရှင်မြတ်ဖြစ်တော်မူသည် (ကိုလည်း ၎င်းတို့သည် မသိကြလေသလော)။ ၂

---

(၁) မုနာဖစ်က်များသည် အလ္လာဟ်အရှင်မြတ်နှင့် ပြုထားကြသည့် ကတိများကိုပင် အတည့်အလင်း ချိုးဖျက်ခဲ့ကြသည်။ မဟုတ်မမှန် လုပ်ကြံ၍ မုသားပြောဆိုလေ့ရှိခဲ့ကြသည်။ စေးနှဲခဲ့ကြသည်။ သွေဖည်ခဲ့ကြသည်။ ဤသည်တို့သည် "နီဖာက်" ၏ အကိုင်းအလက်များသာ ဖြစ်ချေသည်။ ထို့အတွက်ကြောင့် ထိုဆိုးသွမ်းမှု၊ ယုတ်မာမှုများ၏ပြစ်ဒဏ်ကို ပေးတော်မူရာတွင် မူလ "နီဖာက်" မွတ်စ်လင်မ် အရေခြုံမှုကို ၎င်းတို့၏ စိတ်နှလုံးတွင် အမြစ်တွယ်၍ သွားစေတော် မူခဲ့လေသည်။ ထို အမြစ်တွယ်မှုသည် ၎င်းတို့ သေဆုံးကြသည့်တိုင်အောင် တည်ရှိနေပေမည်။

အလ္လာဟ်အရှင်မြတ်၏ စွန္နတ်တော်တရပ်မှာ အကြင်သူတဦးသည် သုစရိုက်မှုတခု၊ သို့မဟုတ် ဒုစရိုက်မှုတခုကို မိမိ၏စိတ်သဘောအတိုင်း နှစ်သက်ရွေးချယ်ပြီး အမြဲတစေ ကျင့်သုံးသွားလျှင် ထိုသုစရိုက်မှု သို့မဟုတ် ဒုစရိုက်မှုကို ယာယီ သို့မဟုတ် အမြဲတစေ ဖြစ်သွားစေလေသည်။ ထိုအကျင့်သည် ထိုသူ၏ မူလဗီဇမျိုးစေ့တွင် အပါအဝင် ဖြစ်သွားလေသည်။ ဒုစရိုက်မှုတခုခုကို ယင်းကဲ့သို့ ရွေးချယ်၍ အမြဲတစေ ကျင့်သုံးသွားခြင်းကိုပင် အကျိုးအားဖြင့် တင်စား၍ "ခတမ" "တ္ဗဇအ" ထိုအရှင်မြတ်သည် တံဆိပ်ခပ်နှိပ်တော်မူလိုက်လေပြီဟူ၍ တခါတရံ တင်စားသုံးနှုန်းထားတော်မူသည်။

(၂) မုနာဖစ်က်များသည် စိတ်တွင်း၌ "ကုဖ်ရ်" ဖုံးအုပ်ထားပြီး အစ္စလာမ့်အရေကို ခြုံထားကြသည်။ အမိန့်တော်ကို နာခံဟန်ဆောင်နေကြသည်။ (ပြစားရန်အတွက် ကတိအမျိုးမျိုးပေးကြသည်။ စကားအမျိုးမျိုး ပြောကြသည်။ မဖြစ်သာသည့်အဆုံး၌ ဥစ္စာပစ္စည်း လှူဒါန်းကြသည်။) ဤသို့ ပြစားမှု၊ ဟန်ဆောင်မှု၊ အရေခြုံမှုများသည် မုနာဖစ်က်များအဖို့ မည်သို့မျှ အကျိုးဖြစ် ထွန်းစေမည်မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ လျှို့ဝှက်ချက်၊ ၎င်းတို့၏ နှစ်ကိုယ်ကြား ဆွေးနွေးတိုင်ပင် နှီးနှောချက်များကို သိတော်မူသည်။ ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ်သည် ဖုံးကွယ်လျက်ရှိသော အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့ ➤➤

اَلَّذِيْنَ يَلْمِزُوْنَ الْمُطَّوِّعِيْنَ مِنَ الْمُؤْمِنِيْنَ فِى الصَّدَقٰتِ وَالَّذِيْنَ لَا يَجِدُوْنَ اِلَّا جُهْدَهُمْ فَيَسْخَرُوْنَ مِنْهُمْ ؕ سَخِرَ اللّٰهُ مِنْهُمْ ۫ وَلَهُمْ عَذَابٌ اَلِيْمٌ ﴿٧٩﴾

၇၉။ (ထို'မုနာဖစ်က်' မွတ်စ်လင်မ် အယောင်ဆောင်များသည်)အကြင်သူများပင်၊ ယင်း(မုနာဖစ်က်)သူများသည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အနက်မှ သဒ္ဓါကြည်ဖြူစွာ ပေးကမ်း လှူဒါန်းသူတို့အား ပြစ်တင် ပြောဆိုကြလေသည်။ ၎င်းပြင် မိမိတို့အားသွန်ခွန်စိုက်ရှာဖွေရရှိသော ချွေးနဲ့စာမှအပ၊ အခြားတစုံတရာကို မရရှိနိုင်ကြသော သူတို့အားလည်း ထို(မုနာဖစ်က် မွတ်စ်လင်မ်အယောင်ဆောင်)တို့သည် *ပြက်ချော်ပြောင်လှောင်ကြပေသည်။* [၁] အလ္လာဟ်အရှင်မြတ်သည် ယင်း(မုနာဖစ်က်)တို့အား ပြောင်လှောင်တော်မူခဲ့လေသည်။ ထို့ပြင်၎င်းတို့၌ ပြင်းပြနာကျင်စေသော ပြစ်ဒဏ်သည်လည်း ရှိပေအံ့သတည်း။

➤➤ သိတော်မူသော အရှင်ဖြစ်တော်မူသည်။ သို့ဖြစ်ပေရာ မုနာဖစ်က်များ၏ အရေခြုံမှု၊ ဟန်ဆောင်မှု၊ ပြစားမှုများသည် ၎င်းတို့အား အသို့လျှင်ကျေးဇူးပြုနိုင်အံ့နည်း။ မုနာဖစ်က်များသည် ဤသည်ကိုပင် မသိကြလေသလော။ ထာနဝီ။ အ – ၄။ စ – ၁၂၉။

(၁) တနေ့သောအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မွတ်စ်လင်မ်တို့အား အလှူဒါနပြုရန် တိုက်တွန်း နှိုးဆော်တော်မူလေသည်။ထိုအခါ သာဝကကြီး အဗ်ဒုရ်ရဟ်မာန် အစ်ဗ်နုအောက်ဖ်(ရဒွေ့ယလ္လာဟု တအာလာအန်ဟု)သည် 'ဒီနာရ်' သို့မဟုတ် 'ဒစ်ရ်ဟမ်' လေးထောင် (၄၀၀၀)ပေးလှူလေသည်။ သာဝကကြီး အာဆွင်မ်အစ်ဗ်နုအဒီ(ရဒွေ့ယလ္လာဟု တအာလာအန်ဟု)သည် ဒစ်ရ်ဟမ် လေးထောင် (၄၀၀၀)တန်သည့် စွန်ပလွံသီး အလေးချိန် 'ဝါစ်က်' တရာ (၁၀၀)ပေးလှူလေသည်။ ထိုအခါ မုနာဖစ်က်များက "ဤပုဂ္ဂိုလ်နှစ်ဦးတို့သည် ပြစားရန်အတွက် လှူဒါန်းခြင်းသာ ဖြစ်သည်" ဟု ကဲ့ရဲ့ပြစ်တင်ပြောဆိုကြလေသည်။

ဆင်းရဲနွမ်းပါးသော သာဝကကြီး အဗူအကီးလ်(ရဒွေ့ယလ္လာဟု တအာလာအန်ဟု)သည် မိမိချွေးနှင့်ရင်းနှီး၍ ရှာဖွေရရှိသည့် အနည်းငယ်မျှသော ချွေးနဲ့စာထဲမှပင် အလေးချိန် တဆွာအ် (မြန်မာအလေးချိန် ၂ ပိဿာခန့်) ပေးလှူလေသည်။ ထိုအခါတွင်လည်း မုနာဖစ်က်များက 'ဤသူသည် လည်ပင်းတွင် သွေးသုတ်ပြီး 'ရှဟီဒ်' များတွင် အချောင်ပါဝင်လိုသည်။ ဤမျှနည်းပါးသော စွန်ပလွံသီးသည် အဘယ်သို့သော အကျိုးဖြစ်ထွန်းစေနိုင်အံ့နည်း:' ဟု ပြက်ချော် ပြောင်လှောင်ကြလေသည်။ အချုပ်အားဖြင့် မုနာဖစ်က်များသည် စေတနာအလျှောက် တက်နိုင်ကုန်၍ မြောက်မြားစွာ လှူဒါန်းသော ပုဂ္ဂိုလ်များကိုလည်းကောင်း၊ မရှိဆင်းရဲ၍ အနည်းအကျဉ်းမျှ လှူဒါန်းနိုင်သာ ပုဂ္ဂိုလ်များကိုလည်းကောင်း၊ မည်သူ့ကိုမျှ ချမ်းသာပေးကြသည်မရှိပေ။ အားလုံးတို့အား ကဲ့ရဲ့ပြစ်တင် ပြောင်လှောင်ပြက်ချော်ကြလေသည်။ ထို့အတွက်ကြောင့်ပင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ယင်းသို့ ပြစ်တင်ပြောင်ချော်ကြသည့်အတွက် ပြစ်ဒဏ်ပေးတော်မူမည်ဖြစ်သည်။ ➤➤

اِسۡتَغۡفِرۡ لَهُمۡ اَوۡ لَا تَسۡتَغۡفِرۡ لَهُمۡ اِنۡ تَسۡتَغۡفِرۡ لَهُمۡ سَبۡعِيۡنَ مَرَّةً فَلَنۡ يَّغۡفِرَ اللّٰهُ لَهُمۡ ذٰلِكَ بِاَنَّهُمۡ كَفَرُوۡا بِاللّٰهِ وَرَسُوۡلِهٖ وَاللّٰهُ لَا يَهۡدِى الۡقَوۡمَ الۡفٰسِقِيۡنَ ﴿۸۰﴾

၈၀။ (အို...နဗီတမန်တော်)အသင်သည် ၎င်းတို့အဖို့ လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြားသည်ဖြစ်စေ၊ သို့တည်းမဟုတ် အသင်သည်၎င်းတို့အဖို့ လွတ်ငြိမ်းချမ်းသာခွင့်ကို မပန်ကြားသည်ဖြစ်စေ၊ *(အကြောင်းမထူးပေ။* [၁] အသို့ဆိုသော်) အကယ်၍ အသင်သည် ၎င်းတို့အဖို့ *အကြိမ်ခုနစ်ဆယ်တိုင်တိုင်* [၂] လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြားသော်လည်း အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား အလျှင်းလွတ်ငြိမ်းချမ်းသာခွင့်ပေးသနားတော်မူမည်မဟုတ်ပေ။ အကြောင်းသော်ကား၊ယင်းသူတို့သည် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်အားလည်းကောင်း၊ သွေဖည်ငြင်းပယ်ခဲ့ကြသောကြောင့်ပင်။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အမိန့်တော် ဖီဆန်သော သူတို့အား တရားလမ်းမှန်သို့ ပို့ဆောင် တော်မူသည် မဟုတ်ပေတကား။

---

➤➤ ယင်းမုနာဖစ်က်များသည် ဤပစ္စက္ခဘဝတွင် ရက်အနည်းငယ်မျှ ပြောင်လှောင်ခွင့် ရရှိနေကြသော်လည်း ၎င်းတို့အဖို့ ပြင်းပြနာကျင်စေသော အပြစ်ဒဏ်သည် အသင့်ဖြစ်လျက်ရှိချေပြီ။

(၁) တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မုနာဖစ်က်များအဖို့ အဘယ်မျှပင် လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားတော်မူငြားသော်လည်း ထိုမုနာဖစ်က်များ၌ မည်သို့မျှ အကျိုးသက်ရောက်မည် မဟုတ်ပေ။ အလ္လာဟ်အရှင်မြတ်သည် အမိန့်တော်ကို သွေဖည်ငြင်းဆန် မနာခံသော၊ ယုတ်မာဆိုးသွမ်းသော ဤကာဖိရ်၊ မုနာဖစ်က်တို့အား ဘယ်သောအခါမျှ၌ လွတ်ငြိမ်းချမ်းသာခွင့် အလျှင်းပေးတော်မူမည် မဟုတ်ပေ။

အကြောင်းဆိုလာသည်မှာ – တနေ့သ၌ မဒီနာမြို့တွင် မုနာဖစ်က်တို့၏ခေါင်းဆောင် အဓိပတိဖြစ်သော အဗ်ဒုလ္လာဟ် အိဗ်နအုဗိုင်ယ်သည် သေဆုံးသွားခဲ့လေသည်။ ထိုအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အဗ်ဒုလ္လာဟ် အိဗ်န အုဗိုင်ယ်၏ "ကဖန်" ပိတ်အတွက် မိမိ၏အင်္ကျီကို ပေးတော်မူခဲ့၏။ ဂျနာဇဟ် ဆွလာတ်ဝတ်ပြုတော်မူခဲ့၏။ ပြီးနောက် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အဗ်ဒုလ္လာဟ် အိဗ်န အုဗိုင်ယ်အဖို့ လွတ်ငြိမ်းခွင့်ပန်ကြားတော်မူခဲ့လေသည်။ သာဝကကြီးအုမရ်(ရဒေွ့ယလ္လာဟု တအာလာအန်ဟု)သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ယင်းသို့ ပြုလုပ်တော်မမူရန် အကြိမ်ကြိမ် မေတ္တာရပ်ခံခဲ့လေသည်။

သာဝကကြီး အုမရ် (ရဒေွ့ယလ္လာဟု တအာလာ အန်ဟု)က "အို – အလ္လာဟ်၏ ရစူလ်၊ ဤသူယုတ်မာသည် အဘယ် အချိန် အဘယ် ဌာနတွင် အဘယ်သို့ ယုတ်မာ ဆိုးသွမ်းခဲ့ပါသည်။ ➤➤

➤➤ ဤသူယုတ်မာသည် အမြဲတစေကုဖ်ရ် သွေဖည်ငြင်းဆန်မှု၊ နိဖာက် အရေခြုံမှုများတွင် ရှေ့ဆောင်အလံကိုင်ဖြစ်ခဲ့ပါသည်။ ဤသူယုတ်မာများနှင့် ပတ်သက်၍ အလ္လာဟ်အရှင်မြတ်က ... ...

"အသင်သည် ထိုသူများအဖို့ လွတ်ငြိမ်းခွင့် ပန်ကြားသည်ဖြစ်စေ၊ သို့တည်းမဟုတ် အသင်သည် ထိုသူများအဖို့ လွတ်ငြိမ်းခွင့် မပန်ကြားသည်ဖြစ်စေ၊ အကယ်၍ အသင်သည် ထိုသူများအဖို့ အကြိမ်ပေါင်း(၇၀)တိုင်တိုင်ပင် လွတ်ငြိမ်းခွင့် ပန်ကြားသော်လည်း အလ္လာဟ်အရှင်မြတ်သည် ထိုသူများအား လွတ်ငြိမ်းချမ်းသာခွင့် အလျှင်းပေးတော်မူမည်မဟုတ်ဟု မိန့်ကြားတော်မူသည် မဟုတ်ပါလော" ဟု အကြောင်းပြမေတ္တာရပ်ခံခဲ့လေသည်။

ထိုအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က ဖြေကြားတော်မူသည်မှာ 'အို-အုမရ်၊ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားခြင်းမှ ကျွန်ုပ်အား ပိတ်ပင်ထားတော်မူသည်မဟုတ်၊ ၎င်းတို့အား လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မမူခြင်းသည် အလ္လာဟ်အရှင်မြတ်၏ အလုပ်သာဖြစ်သည်။ တနည်းအားဖြင့် ကျွန်ုပ်၏လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားခြင်းသည် ယင်းမုနာဖစ်က်များအဖို့ အကျိုးမရှိကနေပါစေ၊ သို့ရာတွင် ကျွန်ုပ်၏ဤအပြုအမူသည် အခြားသူများအား အကျိုးဖြစ်ထွန်းစေနိုင်သည်။ အကြီးမားဆုံးသော ရန်သူတဦးအား တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က ဤကဲ့သို့ သဘောထားကြီးမားစွာဖြင့် အံ့ဖွယ်သရဲ သနား ကြင်နာယုယစွာ ပြုစုတော်မူသည်ကို သူတပါးတို့တွေ့မြင်က အစ္စလာမ်နှင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား အထူးကြည်ညိုလေးစားလာကြပေမည်။ ဤအတိုင်းလည်း ဖြစ်ရှိလာခဲ့ပေသည်။

ဗုခါရီကျမ်း၌ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က 'အကယ်၍ အကြိမ်ပေါင်း(၇၀)ထက်ပို၍ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားခြင်းအားဖြင့် ဤသူလွတ်ငြိမ်းခွင့် ရရှိသွားမည်ကို ကျွန်ုပ်သိလျှင် ကျွန်ုပ်သည် အကြိမ်ပေါင်း (၇၀)ထက်ပို၍ပင် လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားမည်ဖြစ်သည်' ဟု မိန့်ကြားတော်မူခဲ့လေသည်' ဟူ၍ လာရှိပေသည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အထက်ပါ မိန့်ကြားချက်ကို ထောက်ရှုခြင်းအားဖြင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည်လည်း သာဝကကြီးအုမရ်(ရဒွေ့ယလ္လာဟု တအာလာအန်ဟု)ကဲ့သို့ပင် လွတ်ငြိမ်းခွင့် ပန်ကြားပေးခြင်းသည် အဗ်ဒုလ္လာဟ် အစ်ဗ်နု အုဗိုင်ယ် အဖို့ရာ အကျိုးမရှိမည်ကို ရှေးမဆွကပင် ကြိုတင်တွေးမြင်တော်မူခဲ့လေသည်။ သို့ရာတွင် ခြားနားချက်မှာ သာဝကကြီးအုမရ်(ရဒွေ့ယလ္လာဟို တအာလာအန်ဟု)သည် 'အလ္လာဟ်အရှင်မြတ်အဖို့ မုန်းတီးခြင်း' ဟူသော သြဝါဒတော်ကို လိုက်နာကျင့်သုံးရန် စိတ်စော၍ ထိုသာဝကကြီး၏အမြင်သည် ထိုသြဝါဒအပေါ်၌သာ တည်နေပေသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် သေနေသူ အဗ်ဒုလ္လာဟ် အင်ဗ်နုအုဗိုင်ယ်၌ အကျိုးမရှိသည်ကို စဉ်းစားတော်မမူပဲ တမန်တော်တပါးအနေနှင့် သနားကြင်နာ ကရုဏာပွားများရန်ကိုသာ ရှေ့ရှုတော်မူခဲ့လေသည်။ သို့တစေလည်း နောက်ဆုံး၌ ကုရ်အာန်ကျမ်းမြတ် (၉း၈၄)တွင် လာရှိသည့်အတိုင်း ..

"အသင်သည် ထိုမုနာဖစ်က်များအနက် တဦးတယောက်သေဆုံးသော် ထိုသူအဖို့ မည်သည့်အခါမျှ ဆွလာတ်ဝတ်မပြုလေနှင့် ထိုပြင်တဝ အသင်သည် ထိုသူ၏သင်္ချိုင်းအပေါ်၌လည်း မတ်တတ်မရပ်လေနှင့်။" ဟူသော အာယတ်တော် ကျရောက်လာပြီး ထိုရက်ပိုင်းတွင်မှ မုနာဖစ်က်များအဖို့ ဂျနာဇဟ်ဆွလာတ်ဝတ်ပြုခြင်း၊ ၎င်းတို့၏ ဈာပန သင်္ဂြိုဟ်မှုကိစ္စများတွင် ဝင်ရောက်ကူညီအားပေးခြင်းများကို လုံးဝ ပိတ်ပင် တားမြစ်တော်မူလိုက်လေသည်။ အဘယ်ကြောင့်ဆိုသော် ယင်းသို့ မုနာဖစ်က်များ၏ အသုဘကိစ္စများတွင် ဝင်ရောက်ကူညီခြင်းအားဖြင့် တဘက်တွင် မုနာဖစ်က်များအဖို့ စိတ်အားတက်ဖွယ်ရာအကြောင်း ဖြစ်သွားနိုင်ပေသည်။ ➤➤

فَرِحَ الْمُخَلَّفُوْنَ بِمَقْعَدِهِمْ خِلٰفَ رَسُوْلِ اللّٰهِ وَكَرِهُوْٓا اَنْ يُّجَاهِدُوْا بِاَمْوَالِهِمْ وَاَنْفُسِهِمْ فِيْ سَبِيْلِ اللّٰهِ وَقَالُوْا لَا تَنْفِرُوْا فِى الْحَرِّ ؕ قُلْ نَارُ جَهَنَّمَ اَشَدُّ حَرًّا ؕ لَوْ كَانُوْا يَفْقَهُوْنَ ﴿٨١﴾

၈၁။ (တဗူးက် စစ်မြေပြင်သို့ မလိုက်ပါပဲ) နောက်ကျန်ရစ်ခဲ့ကြသောသူတို့သည် [၁] အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်မြတ် (ကြွသွားတော်မူပြီး)နောက်တွင် မိမိတို့ ထိုင်နေရစ်ခဲ့ကြရသောကြောင့် ဝမ်းမြောက် ပျော်ရွှင်ခဲ့ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ မိမိတို့၏ ဥစ္စာပစ္စည်းများဖြင့်လည်းကောင်း၊ မိမိတို့၏အသက်ဇီဝိန်များဖြင့်လည်းကောင်း၊ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းကိုစက်ဆုပ်ခဲ့ကြကုန်၏။ ထိုမှတပါး ၎င်းတို့သည် (မိမိတို့ အချင်းချင်း တဦးကိုတဦး) "အသင်တို့သည် (ဤမျှပြင်းထန်လှသော) အပူရှိန်တွင် (နေအိမ်မှ) မထွက်ကြကုန်လင့်"ဟု [၂] ပြောဆိုခဲ့ကြ၏။(အို-နဗီ တမန်တော်) အသင်သည် (၎င်းတို့အား) "ဂျဟန္နမ် ငရဲဘုံ၏မီးသည် အပူရှိန်အားဖြင့် ပိုမို၍ပင် ပြင်းထန်လှပေသည်" ဟု ပြောဆိုပါလေ။ အကယ်၍ ၎င်းတို့သည် သိမြင်နားလည်သည် ဖြစ်ကြပါလျှင်၊ ကောင်းလေစွ။

➤➤ အခြားတဘက်တွင် မုအ်မင်န်များအဖို့ စိတ်ဓာတ် ကျဆုံးသွားရန်အကြောင်းလည်း ဖြစ်လာနိုင်ပေသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည်လည်း ထိုအမိန့်တော် ကျရောက်လာသည့်အချိန်မှစ၍ မည်သည့် မုနာဖစ်က်အဖို့မျှ ဂျနာဇဟ် ဆွလာတ်ဝတ်ပြုတော်မမူတော့ချေ။

(၂) ဤအာယတ်တော်တွင် ပါရှိသည့် အကြိမ်ပေါင်း (၇၀)ဟူသည် အရေအတွက်အားဖြင့် (၆၉)နှင့် (၇၁) ကြားရှိ (၇၀)အတိအကျကိုသာ ဆိုလိုသည်မဟုတ်။ များစွာ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားခြင်းကို တင်စား၍ မိန့်ဆိုထားတော်မူခြင်းဖြစ်သည်၊ အရဗီစာပေတွင် ဤသို့သော အသုံးအနှုန်း အများအပြားရှိသည်။

(၁) ဤအာယတ်တော်တွင် တဗူးစစ်ပွဲသို့မလိုက်ပါပဲ နောက်ထိုင် ကျန်ရစ်ခဲ့သော မုနာဖစ်က်များကို ရည်ညွှန်းထားတော်မူသည်။ မုနာဖစ်က်များသည် မကောင်းမှုကို ပြုလုပ်၍ ဝမ်းသာကြသည်။ ကောင်းမှုပြုလုပ်ရန်ကိုမူ စိုးရိမ်ကြသည်၊ စက်ဆုပ်ကြသည်။ အထက်တွင် ပါရှိခဲ့သည့်အတိုင်း မုနာဖစ်က်များသည် ကောင်းမှုပြုသော ပုဂ္ဂိုလ်များကို ကဲ့ရဲ့ပြစ်တင်ကြသည်၊ ပြက်ချော်ပြောင်လှောင်ကြသည်။ ဤသို့သော သူယုတ်မာများအဖို့ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားတော်မူခြင်းသည် အသို့လျှင် အကျိုးသက်ရောက်စေနိုင်အံ့နည်း။ အမှန်မှာ မည်သူ တဦးတယောက်အဖို့ မဆို တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က လွတ်ငြိမ်းခွင့် ပန်ကြားပေးတော်မူလျှင် ထိုသူသည် လွတ်ငြိမ်းခွင့် ရရှိသည်သာ ➤➤

فَلْيَضْحَكُوا قَلِيلًا وَّلْيَبْكُوا كَثِيرًا ۚ جَزَآءًۢ بِمَا كَانُوا يَكْسِبُونَ ﴿٨٢﴾

၈၂။ သို့ဖြစ်ပေရာ၊ ၎င်းတို့သည် (ဤလောကတွင်) အနည်းငယ်မျှရယ်မောကြစေ။ တဖန် (နောင်တမလွန်ဘဝတွင်မူ) မိမိတို့ ရှာဖွေဆည်းပူးခဲ့ကြသည်များကြောင့် များစွာငိုကြွေးကြစေ။

فَإِن رَّجَعَكَ اللَّهُ إِلَىٰ طَآئِفَةٍ مِّنْهُمْ فَاسْتَأْذَنُوكَ لِلْخُرُوجِ فَقُل لَّن تَخْرُجُوا مَعِيَ أَبَدًا وَّلَن تُقَاتِلُوا مَعِيَ عَدُوًّا ۖ

၈၃။ သို့ဖြစ်ပေရာ အကယ်၍ အလ္လာဟ်အရှင်မြတ်သည် အသင့်အား၎င်းတို့အနက်မှ လူတစုစု၏ထံသို့ ပြန်လည်၍ ရောက်ရှိစေခဲ့ပါလျှင်၊ တဖန် ၎င်းတို့သည် (စစ်မက်ပြိုင်ဆိုင်တိုက်ရန်) ထွက်ခွဲကြပါရစေဟု အသင့်ထံ ခွင့်ပန်ကြပါလျှင်၊ အသင်သည် (ထိုသူတို့အား) "အချင်းတို့၊ အသင်တို့သည် ငါနှင့်အတူ မည်သည့်အခါ၌မျှ ထွက်ကြမည်လည်း မဟုတ်၊ ထိုနည်းတူစွာ အသင်တို့သည် ငါနှင့်အတူ မည်သည့်ရန်သူတဦးတယောက်ကိုမျှ တိုက်ခိုက်ကြမည်လည်း မဟုတ်။

➤➤ ဖြစ်သည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြား၍ လွတ်ငြိမ်းခွင့်မရရှိနိုင်သော အပြစ်ဟူ၍ပင်မရှိချေ။ ကြည့်-ကုရ်အာန် (၄း၆၄)။ သို့တစေလည်း "အီမာန်" ယုံကြည်မှုမရှိသော၊ ယုံကြည်မှု မှားယွင်းပျက်စီးနေသော မုနာဖစ်က်များအဖို့မှာကား တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားခြင်း၊ တကြိမ်မက အကြိမ်ပေါင်း ခုနစ်ဆယ်သည်ပင်လျှင် အကျိုးသက်ရောက်စေသည် မဟုတ်ပေ။ ဤအကြောင်းနှင့်စပ်လျဉ်း၍ အဗ်ဒုလ္လာဟ် အိဗ်နုအုဗိုင်ယ်၏ဖြစ်စဉ်ကို ဆင်ခြင်ကြပါကုန်။

② တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က "တဗူးက်" စစ်မြေပြင်သို့ ချီတက်ရန်အတွက် မွတ်စ်လင်မ်တို့အား အမိန့်ထုတ်တော်မူခဲ့၏။ ထိုအချိန်သည် နွေဥတုရာသီဖြစ်၏။ မုနာဖစ်က်များက "အသင်တို့သည် အပူရှိန်တွင် မထွက်ကြနှင့်" ဟု အချင်းချင်း ပြောဆိုခဲ့ကြ၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်က "ဂျဟန္နမ်၏မီးသည် ပိုမို၍ပင် ပူပြင်းသည်" ဟု တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) အား ပြောကြားစေတော်မူခဲ့၏။

ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်အား သွေဖည်ငြင်းဆန်၍ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အမိန့်ဩဝါဒများကို မနာခံသူများအတွက် အလ္လာဟ်အရှင်မြတ်သည် ဂျဟန္နမ်ကို အသင့်ဖန်ဆင်းထားတော် မူသည်၊ ထို ဂျဟန္နမ်၏ မီးသည် ဤ အပူရှိန်ထက် အတိုင်းအဆ မရှိ ပို၍ ပူပြင်းလှသည်။

إِنَّكُمْ رَضِيتُم بِالْقُعُودِ أَوَّلَ مَرَّةٍ فَاقْعُدُوا مَعَ الْخَالِفِينَ ﴿٨٣﴾

အဘယ်ကြောင့်ဆိုသော် အသင်တို့သည် ပထမအကြိမ်ကလည်း (စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန် မထွက်ခဲ့ကြပဲ) ထိုင်၍နေရစ်ခဲ့ခြင်းကိုသာ နှစ်မြို့ခဲ့ကြသောကြောင့်ပင်။ သို့ဖြစ်ပေရာ ယခုလည်း အသင်တို့သည် နောက်၌ကျန်ရစ်ခဲ့ကြသောသူတို့နှင့် အတူထိုင်၍ပင် နေရစ်ခဲ့ကြလေကုန်" ဟု ဖြေကြားပါလေ။ [၁]

وَلَا تُصَلِّ عَلَىٰ أَحَدٍ مِّنْهُم مَّاتَ أَبَدًا وَلَا تَقُمْ عَلَىٰ قَبْرِهِ ۖ إِنَّهُمْ كَفَرُوا بِاللَّهِ وَرَسُولِهِ وَمَاتُوا وَهُمْ فَاسِقُونَ ﴿٨٤﴾

၈၄။ ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အနက် မည်သူတဦးတယောက်မဆို သေဆုံးခဲ့ပါလျှင်၊ ထိုသူ၏ အပေါ်၌ 'ဆွလာတွလ်ဂျနာဇဟ်' ဝတ်ပြုမှုကို မည်သည့်အခါ၌မျှမပြုပါလေနှင့်။ ၎င်းပြင် ထိုသူ၏သင်္ချိုင်းပေါ်၌လည်းမည်သည့်အခါမျှ မရပ်ပါလေနှင့်။ [၂] အကြောင်းသော်ကား၊ ယင်းသူတို့သည် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ သွေဖည်ငြင်းပယ်ခဲ့ကြသည့်ပြင် ယင်းသူတို့သည် အမိန့်တော်ကို ဖီဆန်သူများအဖြစ်နှင့်ပင် သေဆုံးခဲ့ကြသောကြောင့်တည်း။

---

(၁) အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်အဟုန်ဖြင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် တဗူးက်စစ်မြေပြင်တွင် အောင်ပွဲဆင်နွှဲ၍ မဒီနာမြို့သို့ ကောင်းမွန်စွာ ပြန်ကြွလာတော်မူသည့်အခါ မုနာဖစ်က်များသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတွင် ၎င်းတို့ကိုယ်တိုင် အခြားစစ်ပွဲများသို့ ချီတက်လိုက်ပါရစေဟု မျက်နှာလိုအားရ မြှောက်ပင့်ခယ ပြောဆိုပန်ကြားကြမည်ဖြစ်သည်။ ထို့အတွက် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ၎င်းတို့၏ ပန်ကြားချက်နှင့်စပ်လျဉ်း၍ "ယခုမူ အသင်တို့၏ စွမ်းရည်သတ္တိ အဘယ်မျှရှိသည်မှာ ထင်ရှားသွားချေပြီ၊ အသင်တို့၏ စိတ်နေသဘောထားလည်း ပေါ်လွင်လျက်ရှိချေပြီ။ အသင်တို့သည် ငါနှင့်အတူတကွ ဘယ်သောအခါ၌မျှ စစ်ချီ ထွက်ကြမည်လည်းမဟုတ်၊ အစ္စလာမ်သာသနာ၏ မည်သည့်ရန်သူကိုမျှ အသင်တို့ တိုက်ခိုက်ကြမည်လည်းမဟုတ်။ သို့ဖြစ်ပေရာ အသင်တို့သည် ငါနှင့်အတူတကွ စစ်ချီထွက်ရန်အတွက် ဒုက္ခခံကြရန်မလို။ အသင်တို့သည် အိမ်နေအမျိုးသမီးများ၊ ကလေးသူငယ်များ၊ ဒုက္ခိတများ၊ သက်ရွယ်ကြီးရင့်သော အဘိုးအို အမယ်အိုများနှင့်အတူ အိမ်များတွင်ပင် ဦးခေါင်းလျှို၍ ထိုင်နေကြကုန်။ ယခင်တကြိမ် အသင်တို့ နှစ်ခြိုက်ခဲ့ကြသည့် လမ်းစဉ်သည်ပင် ➤➤

وَلَا تُعۡجِبۡكَ أَمۡوَٰلُهُمۡ وَأَوۡلَٰدُهُمۡۚ إِنَّمَا يُرِيدُ ٱللَّهُ أَن يُعَذِّبَهُم بِهَا فِي ٱلدُّنۡيَا وَتَزۡهَقَ أَنفُسُهُمۡ وَهُمۡ كَٰفِرُونَ ٨٥

၈၅။ ထို့ပြင် ယင်းသူတို့၏ ဥစ္စာပစ္စည်းများသည် လည်းကောင်း၊ ယင်းသူတို့၏ သားသမီးများသည် လည်းကောင်း အသင့်အား အံ့သြခြင်းကိုမဖြစ်စေရ၊

အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့အား ယင်းဥစ္စာပစ္စည်းများနှင့် သားသမီးများအားဖြင့် လောကီဘဝတွင် ပြစ်ဒဏ်ပေးတော်မူရန်နှင့် ထိုသူတို့ သည် ကာဖိရ် သွေဖည်ငြင်းပယ်သူများအဖြစ်နှင့်၊ ထိုသူတို့၏ အသက်ဇီဝိန် ထွက်သွားရန်ကိုသာ ရည်စူး တော်မူလေသတည်း။ ၁

---

➤➤ အသင်တို့အဖို့သင့်၏။ ထိုလမ်းစဉ်အပေါ်၌ပင် အသက်ထက်ဆုံး နေကြကုန်၊ သေကြကုန်၊ အလ္လာဟ် အရှင်မြတ်၏ပြစ်ဒဏ်ကို ကောင်းစွာခံစားကြကုန်" ဟု ဖြေကြားစေတော်မူခဲ့လေသည်။

(၂) ဤအာယတ်တော်သည် အဗ်ဒွလ္လာဟ် အစ်ဗ်နုအုဗိုင်ယ်၏ အသုဘကိစ္စပြီးစီးသည့်နောက်တွင်မှ ကျရောက် လာခဲ့သော အာယတ်တော်ဖြစ်သည်။ ဤအာယတ်တော် ကျရောက်လာပြီးသည့် နောက်ပိုင်းတွင် မုနာဖစ်က်များ အတွက် ဆွလာတွလ် ဂျနာဇဟ် ဝတ်ပြုခြင်းသည် လုံးဝ 'ဟရာမ်' ဖြစ်သွားခဲ့ပေသည်။

သာဝကကြီး အုမရ်(ရဒွေ့ယလ္လာဟု တအာလာအန်ဟု)သခင်သည် သူသေတဦး၏အကြောင်းကို မိမိကိုယ်တိုင်မသိလျှင် သာဝကကြီး ဟုဇိုင်ဖဟ်(ရဒွေ့ယလ္လာဟု တအာလာအန်ဟု)သခင် မပါဝင်သမျှ ကာလပတ်လုံး ထိုသူ့အတွက် ဂျနာဇဟ်ဆွလာတ် ဝတ်ပြုလေ့မရှိခဲ့ပေ။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် သာဝကကြီး ဟုဇိုင်ဖဟ်(ရဒွေ့ယလ္လာဟု တအာလာအန်ဟု)သခင်အား များစွာသော မုနာဖစ်က်များ၏ အမည်နာမများကို ပြောပြတော်မူခဲ့လေသည်။ ထို့အတွက်ကြောင့် သာဝကကြီး ဟုဇိုင်ဖဟ် (ရဒွေ့ယလ္လာဟု တအာလာအန်ဟု)သခင်သည် 'တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က အချို့ လျှို့ဝှက်ချက်များကို အသိပေးတော်မူခဲ့သော သာဝကကြီး' ဖြစ်ခဲ့လေသည်။

**ဓမ္မသတ်။**

ကာဖိရ် သူသေတဦးအတွက် ဂျနာဇဟ် ဆွလာတ်ဝတ်ပြုခြင်း၊ ၎င်းအဖို့ လွတ်ငြိမ်းချမ်းသာခွင့် ပန်ခြင်းသည်မပြုပိုင်။

ထာနဝီ။ အ-၄။ စ-၁၃၃။

(၁) ဤအာယတ်တော်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော် (၉ : ၅၅) နှင့် အနက် သဘောချင်း တူပေသည်။ သို့ဖြစ်ရာ ဤအာယတ်တော်နှင့်စပ်လျဉ်း၍ ကုရ်အာန် (၉ : ၅၅) ၏ သက်ဆိုင်ရာအဖွင့်များကို ပြန်လည်ရှုပါကုန်။

وَإِذَآ أُنزِلَتْ سُورَةٌ أَنْ ءَامِنُوا۟ بِٱللَّهِ وَجَٰهِدُوا۟ مَعَ رَسُولِهِ ٱسْتَـْٔذَنَكَ أُو۟لُوا۟ ٱلطَّوْلِ مِنْهُمْ وَقَالُوا۟ ذَرْنَا نَكُن مَّعَ ٱلْقَٰعِدِينَ ﴿٨٦﴾

၈၆။ စင်စစ်သော်ကား "အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား (စိတ်ရောကိုယ်ပါ) သက်ဝင်ယုံကြည် သည့်ပြင် ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ် နှင့်အတူ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းကိုလည်း ပြုကြလေကုန်" ဟူသောအမိန့်တော်ပါရှိသည့် ကဏ္ဍ တခုခုသည် [၁] ကျရောက်လာသောအခါ၊ ၎င်းတို့ အနက်မှ ဥစ္စာဓနေ ကြွယ်ဝသောသူများကပင်လျှင် "ကျွန်တော်မျိုးတို့အား ခွင့်လွှတ်ပါ၊ ကျွန်တော်မျိုး တို့သည် ထိုင်၍နေရစ်ခဲ့သောသူတို့နှင့်အတူ နေရစ် ခဲ့ကြပါရစေ" ဟူ၍ အသင့်ထံ ပြောဆို ခွင့်ပန်လာကြ ကုန်သတည်း။ [၂]

رَضُوا۟ بِأَن يَكُونُوا۟ مَعَ ٱلْخَوَالِفِ وَطُبِعَ عَلَىٰ قُلُوبِهِمْ فَهُمْ لَا يَفْقَهُونَ ﴿٨٧﴾

၈၇။ ထိုသူတို့သည် (စစ်မက်ပြိုင်ဆိုင် တိုက်ခိုက် ရန် မလိုက်ကြပဲ) နောက်၌ကျန်ရစ်ခဲ့သော အမျိုးသမီး တို့နှင့်အတူ နေရစ်ခဲ့ခြင်းကိုပင်၊ နှစ်သက်ခဲ့ကြလေ သည်။ [၃] ၎င်းပြင် ထိုသူတို့၏စိတ်နှလုံးများအပေါ်၌ လည်း တံဆိပ်ခတ်နှိပ်ပြီး ဖြစ်ခဲ့လေသည်။ သို့ဖြစ်ပေ ရာ ၎င်းတို့သည်(ဂျိဟာဒ် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက် ခြင်း၏ သဘောတရား အစစ်အမှန်ကို အလျှင်း) သိမြင် နားလည်ကြသည် မဟုတ်ချေ။

---

(၁) ဤအာယတ်တော်တွင် "စူရဟ်" ကဏ္ဍဟူသောပုဒ်သည် သီးခြားဝေါဟာရ အဓိပ္ပာယ်၌မဟုတ်၊ အဘိဓာန်လုံးကောက် အဓိပ္ပာယ်၌သာ ဖြစ်သည်။ (ဝါ) ကုရ်အာန်ကျမ်းလာ ကဏ္ဍအပြည့်အစုံဖြစ်စေ၊ တစိတ်တဒေသဖြစ်စေ ကြီးငယ်မဟူ အာယတ်တော်တပါးပါးကို ဆိုလိုသည်။ ဥပမာ- ကုရ်အာန်ကျမ်းမြတ် တစောင်လုံးကို ကုရ်အာန်ဟု ခေါ်ဆိုနိုင်သကဲ့သို့ ကုရ်အာန်ကျမ်းလာ အာယတ်တော်အစိတ်အပိုင်း အသီးသီးကိုလည်း ကုရ်အာန်ဟု ခေါ်ဆိုနိုင်ပေသည်။ ထို့အတူ ကျမ်းတစောင်လုံးကို "ကိတာဗ်" ဟု ခေါ်ဆိုနိုင် သကဲ့သို့ ကျမ်းလာအစိတ်အပိုင်း အသီးသီးကိုလည်း ကိတာဗ် ဟု ခေါ်ဆိုနိုင်ပေသည်။

ကြည့်-မဒါရိက်၊ ဂျလာလိုင်န်။

(၂) မုနာဖစ်က်များအနက် ဥစ္စာဓနေ ကုံလုံကြွယ်ဝသူများသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ထံတွင် ထိုင်နေရစ်သူများနှင့်အတူ နောက်ထိုင်နေခဲ့ကြရန် ခွင့်ပန်ကြသည် ဟူသော အာယတ်တော်၏ အလိုသဘောမှာ မုနာဖစ်က်များအနက် ကုံလုံကြွယ်ဝသောသူများသာ ခွင့်ပန်ကြသည်ဟူ၍မဟုတ်။ ➤➤

لَٰكِنِ الرَّسُولُ وَالَّذِينَ
آمَنُوا مَعَهُ جَاهَدُوا
بِأَمْوَالِهِمْ وَأَنفُسِهِمْ ۚ
وَأُولَٰئِكَ لَهُمُ الْخَيْرَاتُ ۖ
وَأُولَٰئِكَ هُمُ الْمُفْلِحُونَ ﴿٨٨﴾

၈၈။ သို့ရာတွင်မူကား ရစူလ် တမန်တော်မြတ်နှင့် ထိုရစူလ်တမန်တော်နှင့်အတူ အီမာန်သက်ဝင်ယုံကြည်ကြသောသူတို့မူကား၊ မိမိတို့၏ဥစ္စာပစ္စည်းများဖြင့်လည်းကောင်း၊ မိမိတို့၏ အသက်ဇီဝိန်များဖြင့်လည်းကောင်း၊ *စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခဲ့ကြလေသည်။* [၁] စင်စစ်သော်ကား ထိုသူတို့အဖို့သာလျှင် ကောင်းခြင်းအဖြာဖြာတို့သည် ရှိကြပေသည်။ ထိုနည်းတူစွာ၊ ထိုသူတို့သည်သာလျှင် အောင်မြင်သောသူများ ဖြစ်ကြကုန်သတည်း။

---

>> ဆိုလိုသည်ကား ဥစ္စာခနေ ကုံလုံကြွယ်ဝသူများကပင်လျှင် ခွင့်ပန်ကြသည် ဖြစ်ရာ ဥစ္စာခနေ မကုံလုံမကြွယ်ဝသောသူများက ပို၍ခွင့်ပန်ကြပေမည်ဟူ၏။ မာဂျိဒီ။ အ-၂။ စ-၄၁၈။ အအ-၁၅၉။

(၃) အလ္လာဟ်အရှင်မြတ်အား စိတ်စေတနာ ဖြူစင်စွာဖြင့် ယုံကြည်မြတ်နိုး၍ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် အတူတကွ ဂျိဟာဒ် ပြုလုပ်ရန် အာယတ်တော် တပါးပါး ကျရောက်လာသည့်အခါ မုအ်မင်န်များသည် စိတ်အားထက်သန်စွာဖြင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် အတူတကွ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ဂျိဟာဒ်ပြုလုပ်ကြရန် သာရှိသည်။ ဤအတိုင်းလည်း မုအ်မင်န်တို့သည် ပြုလုပ်ကြလေသည်။ သို့ရာတွင် မုနာဖစ်က် အရေခြုံတို့ကား နောက်ထိုင်နေကြသည်။ မုနာဖစ်က်များအနက် ဆင်းရဲနွမ်းပါးသော သူများကို မဆိုထားဘိ၊ ဥစ္စာခနေ ကုံလုံကြွယ်ဝသော သူများသည်ပင်လျှင် လိမ်လည်၍ အကြောင်းအမျိုးမျိုးပြကာ အိမ်များ၌ နေရစ်ခဲ့ကြရန် ခွင့်ပန်ကြလေသည်။ မုနာဖစ်က်များသည် စိုးရိမ်ဖွယ် တစုံတရာ သို့မဟုတ် စစ်မက် ပြိုင်ဆိုင်တိုက်ခိုက်ရမည့် အသံကြားလျှင် အိမ်နေ အမျိုးသမီးများနှင့်အတူ မီးဖိုချောင်တွင် ဦးခေါင်းလျှိုလိုကြသည်။ ယခုပင် သေရတော့မည်ကဲ့သို့ အကြောက်ကြီးကြောက်ကြသည်။ ဤသည် သတ္တိကြောင်မှု၊ ယောက်ျားမပီသမှု၊ မိန်းမဆန်မှုမျှသာဖြစ်သည်။ ရက်ဖွယ်ကောင်းလှသည်။ တဖန် အခြေအနေ အေးချမ်းသာယာလာလျှင် ယင်းမုနာဖစ်က်များသည်ပင် အရှက်ကင်းမဲ့စွာဖြင့် နှုတ်သီးကောင်းလှပါးနှင့် လူစွမ်းကောင်းလုပ်၍ စကားပြောဆိုကြပြန်သည်။ ဤသည့်အကြောင်း ကုရ်အာန်ကျမ်းမြတ် (၃၃း၁၉)တွင်လည်း မိန့်ဆိုထားတော်မူသည်။

အမှန်မှာ မုနာဖစ်က်များသည် လိမ်လည်မှု၊ အရေခြုံမှု၊ ဂျိဟာဒ်မှ နောက်ထိုင်နေခဲ့မှု၊ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အမိန့်ဩဝါဒများကို မနာခံမှုများကြောင့် ၎င်းတို့၏ စိတ်နှလုံးများအပေါ်တွင် တံဆိပ်ခတ်နှိပ်ပြီး ဖြစ်ချေပြီ။ ယခုမူ ၎င်းတို့သည် ကြီးမားသော မကောင်းမှုများကိုပင် မကောင်းမထင်ကြ။ ရက်ဖွယ်ကောင်းလှသည့် သတ္တိကြောင်မှု၊ အရှက်ကင်းမဲ့မှုများကိုပင် ကြည့်၍ ရှက်ကြောက်ကြရမည့်အစား ဝမ်းသာပျော်ရွှင်နေကြသည်။ ဤကား အရေခြုံတို့၏ လမ်းစဉ်တည်း။

(၁) အထက်တွင် ဂျိဟာဒ်နှင့်စပ်လျဉ်း၍ မုနာဖစ်က်အရေခြုံတို့၏အကြောင်းပါရှိခဲ့၏။ ယခု ဤအာယတ်တော်တွင် စိတ်စေတနာဖြူစင်သော မုအ်မင်န်တို့၏အကြောင်းကို မိန့်ဆိုထားတော်မူသည်။ >>

أَعَدَّ اللَّهُ لَهُمْ جَنَّٰتٍ تَجْرِى مِن تَحْتِهَا الْأَنْهَٰرُ خَٰلِدِينَ فِيهَا ۚ ذَٰلِكَ الْفَوْزُ الْعَظِيمُ ﴿٨٩﴾

၈၉။ အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့ အဖို့ အကြင်ဥယျာဉ်များကို အဆင်သင့်ပြုလုပ်ထားတော်မူလေသည်။ ထိုဥယျာဉ်များ၏အောက်မှ စမ်းရေချောင်းများသည် စီးတွေလျက်ရှိကြချေသည်။ (၎င်းတို့သည်) ထိုဥယျာဉ်များ၌ ထာဝစဉ်နေထိုင်စံမြန်းလျက် ရှိကြပေမည်။ ဤသည်ကား အလွန်ကြီးကျယ် မြင့်မြတ်လှစွာသော အောင်မြင်မှုပင်တည်း။

وَجَآءَ الْمُعَذِّرُونَ مِنَ الْأَعْرَابِ لِيُؤْذَنَ لَهُمْ وَقَعَدَ الَّذِينَ كَذَبُوا اللَّهَ وَرَسُولَهُ ۚ سَيُصِيبُ الَّذِينَ كَفَرُوا مِنْهُمْ عَذَابٌ أَلِيمٌ ﴿٩٠﴾

၉၀။ စင်စစ်သော်ကား၊ ကျေးရွာများ၌ နေထိုင်ကြကုန်သောသူတို့အနက်မှ လိမ်လည်၍ အကြောင်းပြသောသူတို့သည် မိမိတို့ခွင့်ပြုခြင်းခံကြရန် (အသင့်ထံသို့) လာခဲ့ကြကုန်၏။ သို့ရာတွင် အလ္လာဟ် အရှင်မြတ်အား လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ မုသားပြောဆိုခဲ့သောသူတို့မူကား (လိမ်လည်၍ အကြောင်းပြရန်ပင်မလာကြပဲ) ထိုင်၍ပင် နေရစ်ခဲ့ကြကုန်၏။

၎င်းတို့အနက် "ကာဖိရ်" သွေဖည်ငြင်းပယ်ကြသောသူတို့၌နာကျင်စေသောပြစ်ဒဏ်သည် မကြာမြင့်မီပင်ဆိုက်ရောက်ပေလိမ့်မည် ဖြစ်သတည်း။ ၁

➤➤ အမှန်မှာ မုအ်မင်န်များသည် ယောကျာ်းပီပီ အလ္လာဟ်အရှင်မြတ်နှင့် ဖွဲ့ဆိုထားသည့် ကတိကို အတည်ပြုကြသည်။ ထားရှိသော သစ္စာတော်ကို စောင့်သိရိုသေကြသည်။ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ဥစ္စာပစ္စည်းကိုလည်း လှူဒါန်းကြသည်။ အသက်များကိုလည်း စွန့်လှူကြသည်။

အဘယ်မျှကြီးမားသည့် ဘေးအန္တရာယ်နှင့်ပင် ရင်ဆိုင်ရသည်ဖြစ်စေ အစ္စလာမ်သာသနာကို ကာကွယ်ထိန်းသိမ်း စောင့်ရှောက်ရန်အတွက် စွန့်ခြင်းကြီးစွန့်ရန် အချိန်မရွေး အသင့်ရှိကြပေသည်။ ထို့အတွက်ကြောင့်လည်း ဤ သို့သော မုအ်မင်န်များသည် နှစ်ဘဝလုံးတွင် အောင်မြင်ခဲ့ကြသည်။

① မုနာဖစ်က်များသည် မဒီနာမြို့အတွင်း၌သာ ရှိကြသည်မဟုတ်၊ မဒီနာမြို့အပြင် အချို့သောကျေးရွာများ၌လည်း ရှိကြသည်။

ဤအာယတ်တော်တွင် ထိုအရပ်ကျေးတောသား မုနာဖစ်က်များ၏အကြောင်းကို မိန့်ဆိုထားတော်မူသည်။



لَيْسَ عَلَى الضُّعَفَاءِ وَلَا عَلَى الْمَرْضَىٰ وَلَا عَلَى الَّذِينَ لَا يَجِدُونَ مَا يُنفِقُونَ حَرَجٌ إِذَا نَصَحُوا لِلَّهِ وَرَسُولِهِ ۚ مَا عَلَى الْمُحْسِنِينَ مِن سَبِيلٍ ۚ وَاللَّهُ غَفُورٌ رَّحِيمٌ ﴿٩١﴾

၉၁။ အားအင်ချည့်နဲ့သူတို့အပေါ်၌ (စစ်တလင်းသို့ မလိုက်ခဲ့ကြသောကြောင့်) *အပြစ် တစုံတရာမျှ မရှိပြီ၊* [၁] ထို့အတူ ဝေဒနာရှင်တို့အပေါ်၌လည်း (အပြစ်)မရှိပြီ၊ ထိုနည်းတူစွာ (စစ်ရေးတွင်)သုံးစွဲရန် တစုံတရာမျှ မရရှိကြသော သူတို့အပေါ်၌လည်း ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍လည်းကောင်း၊ ထိုအရှင်မြတ်၏ရစူလ်တမန်တော်နှင့် ပတ်သက်၍လည်းကောင်း၊ သဒ္ဓါကြည်ဖြူသော စိတ်စေတနာထားရှိကြပါလျှင် မည်သည့်အပြစ်မျှ မရှိချေ။

---

➤➤ **"အရဗ်" "အအ်ရာဗ်"**

"အရဗ်" ဟူသည် တမန်တော် အစ္စမာအီလ်(အလိုင်ဟစ္စလာမ်)၏ မျိုးနွယ်များကို ဆိုလိုသည်။ "အအ်ရာဗ်" ဟူသော ဝေါဟာရသည် ကျေးတောသားများအတွက်သာလျှင် အသုံးအနှုန်းဖြစ်ပေသည်။

"မုအ်တဇ်စ်ရ်" ဟူသည် အကြင်အကြောင်းပြသောသူကို ဆိုလိုသည်၊ ၎င်း၏အကြောင်းပြချက်သည် မှန်သည်လည်းဖြစ်နိုင်သည်၊ မှားသည်လည်းဖြစ်နိုင်သည်၊ "မုအ်တဇစ်ရ်" ဟူသည် အကြင်အကြောင်းပြသော သူကိုသာ ဆိုလိုသည်။ ၎င်း၏ အကြောင်းပြချက်သည် အမြဲတစေ မှားသည်သာ ဖြစ်သည်။

အားလုံးသော မုနာဖစ်က်များသည် ပြစားရန်အတွက် 'အီမာန်ယုံကြည်ပါသည်' ဟု ပြောဆိုကြရာတွင် လူလိမ်များသာလျှင် ဖြစ်ကြပေသည်။ သို့ရာတွင် အချို့ မုနာဖစ်က်များသည် အပေါ်ယံအားဖြင့် မိမိတို့ ထုတ်ဖော် ပြောဆိုနေကြသည်များကို ထိန်းသိမ်းရန်အတွက် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ထံ လာရောက် ခွင့်ပန်ကြသေးသည်။ သို့ရာတွင် အချို့မုနာဖစ်က် များသည် မောက်မာ ပလွှားကြသည့်အတွက် အရှက်အကြောက် အလျှင်းမထားပဲ ပြစားရန်အတွက်ပင် လာရောက်ခွင့်ပန်ကြားခြင်း မပြုကြပေ။ ၎င်းတို့သည် စိတ်တွင်းသဘောအားဖြင့် လူလိမ်များဖြစ်ကြသည့်အတိုင်း မျက်မြင်အားဖြင့်လည်း ၎င်းတို့၏ လိမ်လည်မှုသည် ပေါ်လွင်ထင်ရှား၍သွားပေသည်။ ဤသို့အားဖြင့် ကျေးတောသား မုနာဖစ်က်များသည် နှစ်မျိုးနှစ်စား ဖြစ်သွားခဲ့ကြပေသည်။ ထာနဝီ။ အ-၂။ စ-၁၃၅။

(၁) အထက်တွင် စစ်မြေပြင်သို့ မလိုက်ပါရန်အတွက် လိမ်လည်အကြောင်းပြသော မုနာဖစ်က်များ၏အကြောင်း ပါရှိခဲ့၏။ ယခု ဤအာယတ်တော်တွင် မှန်ကန်ခိုင်လုံသော အကြောင်းများ ရှိနေသည့်အတွက် စစ်မြေပြင်သို့ မလိုက်ပါနိုင်ခဲ့သော မုအ်မင်န်များ၏ အကြောင်းကို မိန့်ဆိုထားတော်မူသည်။

အချုပ်အားဖြင့် ကိစ္စတရပ်ကို မစွမ်းဆောင်နိုင်သည့်အကြောင်းမှာ တခါတရံ သက်ရွယ်ကြီးရင့်သည့် အတွက် မစွမ်းဆောင်နိုင်ခြင်း ဖြစ်တတ်သည်။ သက်ရွယ်အိုမင်း ကြီးရင့်မှုနှင့် မစွမ်းဆောင်နိုင်မှုသည် အမြဲတစေ ဒွန်တွဲလျက်ရှိပေသည်။ တခါတရံ မစွမ်းဆောင်နိုင်မှုသည် ယာယီအကြောင်းများ ဖြစ်တတ်သည်။ ထိုယာယီ အကြောင်းများသည် တခါတရံ ကိုယ်ခန္ဓာနှင့်သက်ဆိုင်တတ်သည်။ ဥပမာ-ဖျားနာခြင်း၊ ရောဂါဝေဒနာ➤➤

➤➤ စွဲကပ်ခြင်း၊ တခါတရံ ဥစ္စာပစ္စည်းနှင့် သက်ဆိုင်တတ်သည်။ ဥပမာ-ဆင်းရဲနွမ်းပါးခြင်း၊ ခရီးသွားရန် အတွက် လိုအပ်သည့် ပစ္စည်းအသုံးအဆောင်များ မရှိခြင်း၊ တဗူးက်စစ်ပွဲတွင် မွတ်စ်လင်မ် စစ်သည်တော်များသည် အလွန်တရာမှ ဝေးကွာကမ်းလှမ်းသော နေရာသို့သွားရောက်၍ စစ်တိုက်ခိုက်ကြရမည်ဖြစ်ရာ အစီးအနင်း မရှိမှုသည်လည်း စစ်ပွဲတွင် မလိုက်ပါနိုင်ရန် ခိုင်လုံသော အကြောင်းတရပ်ဖြစ်လျက် ရှိပေသည်။

ခိုင်လုံသောအကြောင်းများ ရှိနေသည့်အတွက် စစ်မြေပြင်သို့ မလိုက်ပါနိုင်ခဲ့သော ပုဂ္ဂိုလ်များသည် အကယ်၍ အလ္လာဟ်အရှင်မြတ်အပေါ်၌လည်းကောင်း၊ တမန်တော်မြတ်အပေါ်၌လည်းကောင်း စိတ်စေတနာ သဒ္ဓါကြည်ဖြူစွာ ထားရှိကြလျှင် ဥပမာ – မိမိတို့ကိုယ်တိုင် စစ်မြေပြင်သို့ မသွားရောက်နိုင်ကြသော်လည်း သွားရောက်နိုင်သော စစ်သည်တော်များ၏ စိတ်ဓာတ်ပျက်ပြားအောင် မပြုလုပ်ကြပေ။ ထို့မျှမက မိမိတို့ တတ်စွမ်းနိုင်သမျှ ကောင်းမှုကုသိုလ်လည်း ပြုလုပ်ကြသည်။ မိမိတို့၏ စိတ်စေတနာ သဒ္ဓါတရားဖြူစင်ကြောင်းကို ထင်ရှားပြသရန်လည်း အမြဲတစေ အသင့်ရှိကြပေသည်။ သို့ဖြစ်လျှင် ယင်းသို့သောပုဂ္ဂိုလ်များ၌ ဂျဟာဒ်တွင် မပါဝင် မဆင်နွဲလိုက်ကြရသည့်အတွက် တစုံတရာ အပြစ်မရှိပေ။ ဤသို့သော ပုဂ္ဂိုလ်များဘက်မှ လူ့သဘာဝ အလျောက် တစုံတခု ချို့တဲ့မှု ဖြစ်ရှိသွားပါကလည်း အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ကရုဏာတော်ဖြင့် လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူမည်ပင် ဖြစ်ပေသည်။

**ဂုဏ်ယူဖွယ်။**

တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မိမိ၏ နောက်လိုက်တပည့် သာဝကကြီးများ၏ စိတ်နှလုံးတွင် အလ္လာဟ်အရှင်မြတ်အား ချစ်ကြည်မြတ်နိုးသော စိတ်ဓာတ်များကို အံ့ဖွယ်သရဲ ထည့်သွင်းပေးတော်မူနိုင်ခဲ့လေသည်။ ဤသည့်စိတ်ဓါတ်မျိုးကိုကား၊ မည်သည့်လူမျိုး၊ မည်သည့်အုပ်စု၌မျှ မတွေ့ရှိရပေ။

မှန်ကန်သော ဟဒီဆ်ဒြဲဝါဒတော်များတွင် လာရှိသည်မှာ –တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)က မုဂျာဟစ်ဒ်များအား ရည်ညွှန်း၍ မိန့်ဆိုထားတော်မူသည်မှာ "အသင်တို့သည် မဒီနာမြို့တွင် အကြင်သို့သော အုပ်စုတခုကို မိမိတို့၏နောက်တွင် ထားရှိခဲ့ကြသည်။ ထိုအုပ်စုသည် အသင်တို့ ခြေလှမ်းကြသည် နှင့်အမျှ အသင်တို့၏ ကုသိုလ်အကျိုးတွင် အပါအဝင်ဖြစ်ကြသည်။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ခြေတလှမ်းသွားကြလျှင်၊ သို့မဟုတ် တောတောင်တခုကို ဖြတ်ကျော်ကြလျှင်၊ သို့မဟုတ် လယ်ကန်သင်းတခုကို လျှောက်ကြလျှင် ထိုအုပ်စုသည် အသင်တို့နှင့် နေရာတိုင်းတွင် အတူတူ အပါအဝင် ဖြစ်ကြပေသည်။ ထိုအုပ်စုကား အခြားမဟုတ်၊ ၎င်းတို့၏မစွမ်းဆောင်နိုင်မှု၊ အားအင်ချည့်နဲ့မှုများက ၎င်းတို့အား အသင်တို့နှင့်အတူ လိုက်ပါလာခြင်းမှ တားဆီးထားကြလေသည်"။

အစီးအနင်းမရရှိ၍ ငိုကြွေးကြသော မွတ်စ်လင်မ် စစ်သည်တော်များမှာ အန်ဆွာရ်မျိုးနွယ်များအနက် အောက်ပါ သာဝကကြီး ၇–ပါး ဖြစ်ကြသည်။

၁။ သာဝကကြီး မအ်ကိလ် အိဗ်နု ယစာရ်။ (ရဒွေယလ္လာဟု တအာလာ အန်ဟု)

၂။ သာဝကကြီး ဆွခ်ရ် အိဗ်နု ခန်စာအ်။ (ရဒွေယလ္လာဟု တအာလာ အန်ဟု)

၃။ သာဝကကြီး အဗ်ဒုလ္လာဟ် အိဗ်နု ကအ်ဗ်။ (ရဒွေယလ္လာဟု တအာလာ အန်ဟု)

၄။ သာဝကကြီး စာလင်မ် အိဗ်နု အုမိုင်ရ်။ (ရဒွေယလ္လာဟု တအာလာ အန်ဟု)

၅။ သာဝကကြီး ဆအ်လဗဟ် အိဗ်နု ဃနမဟ်။ (ရဒွေယလ္လာဟု တအာလာ အန်ဟု)

၆။ သာဝကကြီး အဗ်ဒုလ္လာဟ် အိဗ်နု မုဃဖ်ဖာလ်။ (ရဒွေယလ္လာဟု တအာလာ အန်ဟု) ➤➤

ကောင်းမြတ်သော အကျင့်သီလကို ဆောက်တည်ကြကုန်သော သူတော်ကောင်း သူတော်စင်တို့ အပေါ်ဝယ် အပြစ်တင်ရန် မည်သည့်နည်းလမ်းမျှ မရှိပေ။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့်ပေးသနားတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသောအရှင်မြတ် ဖြစ်တော်မူပေသတည်း။

وَّلَا عَلَى الَّذِيْنَ اِذَا مَآ اَتَوْكَ لِتَحْمِلَهُمْ قُلْتَ لَآ اَجِدُ مَآ اَحْمِلُكُمْ عَلَيْهِ ۖ تَوَلَّوْا وَّاَعْيُنُهُمْ تَفِيْضُ مِنَ الدَّمْعِ حَزَنًا اَلَّا يَجِدُوْا مَا يُنْفِقُوْنَ ﴿٩٢﴾

၉၂။ ထိုမှတပါး အကြင်သူတို့ အပေါ်၌လည်း (အပြစ်တင်ရန် မည်သည့်နည်းလမ်းမျှ) မရှိချေ။ ထိုသူတို့သည် အသင့်ထံသို့ ၎င်းတို့အား အသင်သည် (တစုံတရာ) အစီးအနင်းပေါ်သို့ တင်ပေးရန် လာကြသောအခါ အသင်သည် ၎င်းတို့အား "ငါ့ထံ၌ အသင်တို့အား တင်ပေးရန် အစီးအနင်း တစုံတရာ မရှိပါ" ဟု ပြောခဲ့လေသည်။

(ထိုအခါ) ၎င်းတို့သည် (စစ်ရေးတွင်)သုံးစွဲရန် တစုံတရာကိုမျှ မရရှိကြသောကြောင့် ဝမ်းနည်းပူဆွေး၍ မျက်စိများမှာ ၎င်းတို့ မျက်ရည်များဖြင့် ပြည့်လျှံလျက် ပြန်ခဲ့ကြလေသတည်း၊ ပြန်သွားခဲ့ကြရရှာလေသတည်း။

➤➤ ၇။ သာဝကကြီး အလိုင်ယဟ် အိဗ်နု ဇိုက်ဒ်။ (ရဒွေ့ယလ္လာဟု တအာလာ အန်ဟု)

အချို့အဆိုအရ ထိုသာဝကကြီးများမှာ ဗနူမွတ်က်ရင်န် မျိုးနွယ်ဝင်များဖြစ်သော သာဝကကြီး မအ်ကိလ်၊ သာဝကကြီး စုဝိုက်ဒ်၊ သာဝကကြီး နုအ်မာန်တို့ဖြစ်ကြသည်။ အချို့အဆိုအရ ထိုသာဝကကြီးများမှာ သာဝကကြီး အဗူမူစာနှင့် ၎င်း၏မိတ်ဆွေများဖြစ်ကြသည်။

إِنَّمَا السَّبِيلُ عَلَى الَّذِينَ يَسْتَأْذِنُونَكَ وَهُمْ أَغْنِيَاءُ ۚ رَضُوا بِأَنْ يَكُونُوا مَعَ الْخَوَالِفِ وَطَبَعَ اللَّهُ عَلَىٰ قُلُوبِهِمْ فَهُمْ لَا يَعْلَمُونَ ﴿٩٣﴾

၉၃။ ပြစ်တင်ရန် နည်းလမ်းမှာကား အကြင်သူတို့ အပေါ်၌သာ ရှိချေသည်။ ထိုသူတို့သည် ချမ်းသာ ကြွယ်ဝသူများ ဖြစ်ကြပါလျက် (စစ်တလင်းသို့ မလိုက်ပဲ နေကြရန်) အသင့်ထံ ခွင့်ပန်ကြလေသည်။ ၎င်းတို့သည် နောက်၌ကျန်ရစ်ခဲ့ကြသော အမျိုးသမီး တို့နှင့်အတူ နေရစ်ခဲ့ကြရန် နှစ်မြို့ခဲ့ကြလေသည်။ ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ စိတ်နှလုံးများ အပေါ်၌ တံဆိပ် ခတ်နှိပ်တော်မူခဲ့လေ သည်။ သို့ဖြစ်ပေရာ ၎င်းတို့သည် (စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်း၏ သဘောတရားကိုပင်) မသိနားမလည်ကြပေ။ ၁

---

(၁) အကြင်သူများသည် စစ်မြေပြင်သို့ လိုက်ပါချီတက်သွားနိုင်ရန် စွမ်းအားရှိပါလျက် နောက်ချန်နေခဲ့ကြ၏။ အရှက်အကြောက် ကင်းမဲ့သည့်အတွက် အိမ်တွင်းနေ အမျိုးသမီးများနှင့်အတူ အိမ်တွင်းပုန်းအဖြစ် ကျန်ရစ်နေခဲ့ကြရသည်ကိုပင် နှစ်သက်နေကြ၏။ ဤသို့သော သတ္တိကြောင် မိန်းမလျာများအပေါ်၌ကား အပြစ်ရှိပေသည်။

အပြစ်ဒုစရိုက်မှုတခုကို အမြဲတစေ ပြုလုပ်လေ့ ကျူးလွန်လေ့ရှိက စိတ်ဓာတ်သည် ပျက်ပြားကာ မည်းနက်၍သွားပေသည်။ အဆိုး၊ အကောင်းကို ဝေဖန်ခွဲခြား သိနိုင်စွမ်းမရှိဖြစ်ကာ အရှက်အကြောက် လုံးဝကင်းမဲ့သွား၏။ ယင်းသို့ အရှက်အကြောက် လုံးဝ ကင်းမဲ့သွားသည့်အခါ လူသည် မိမိ၏ ယုတ်မာဆိုးသွမ်းလှသော ပြစ်မှုများအပေါ်၌ ရှက်ကြောက်ရမည့်အစား ပြောင်းပြန်ဝမ်းသာ ပျော်ရွှင်၏။ ဤသည့်အဖြစ်ဆိုးသို့ ရောက်ရှိနေသူ သူတဦးအား မြင်တွေ့ရလျှင် အလ္လာဟ်အရှင်မြတ်သည် ၎င်း၏ စိတ်နှလုံးအပေါ်၌ တံဆိပ်ခတ်နှိပ်တော် မူလိုက်ပြီဖြစ်သည်ကို မှတ်ယူ နားလည်ရန်သာ ရှိပေတော့သတည်း။

يَعْتَذِرُوْنَ اِلَيْكُمْ اِذَا
رَجَعْتُمْ اِلَيْهِمْ ۗ قُلْ
لَّا تَعْتَذِرُوْا لَنْ نُّؤْمِنَ
لَكُمْ قَدْ نَبَّاَنَا اللّٰهُ مِنْ
اَخْبَارِكُمْ ۗ وَسَيَرَى اللّٰهُ
عَمَلَكُمْ وَرَسُوْلُهٗ ثُمَّ تُرَدُّوْنَ
اِلٰى عٰلِمِ الْغَيْبِ وَالشَّهَادَةِ
فَيُنَبِّئُكُمْ بِمَا كُنْتُمْ
تَعْمَلُوْنَ ﴿٩٤﴾

၉၄။ အသင်တို့သည် (စစ်တလင်းမှ) ၎င်းတို့ထံ ပြန်ခဲ့ကြသည့်အခါ ၎င်းတို့သည် အသင်တို့ရှေ့ဝယ် (စစ်တလင်းသို့ မလိုက်ပဲနေခဲ့ကြသည်နှင့်စပ်လျဉ်း၍) အကြောင်းပြကြလိမ့်မည်။ (ထိုအခါ) အသင် (၎င်းတို့အား)ပြောကြားပါလေ။ (အချင်းတို့) "အသင်တို့သည် အကြောင်းမပြကြလေနှင့်၊ ကျွနုပ်တို့သည် အသင်တို့(၏စကား)ကို (မှန်သည်ဟု) အလျှင်း ယုံကြည်ကြမည်မဟုတ်၊ (အကြောင်းသော်ကား) ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် ကျွနုပ်တို့အား အသင်တို့၏ (လျှို့ဝှက်သော) သတင်းများကို (အလုံးစုံ) အကြောင်းကြားတော်မူပြီးဖြစ်သည်။

(နောက်နောင်တွင်လည်း) အလ္လာဟ်အရှင်မြတ်သည်လည်းကောင်း၊ ထို အရှင်မြတ်၏ရစူလ်တမန်တော်မြတ်သည်လည်းကောင်း၊ အသင်တို့၏ အကျင့်အမူကို တွေ့မြင်တော်မူကြအံ့၊ ထို့နောက်တဖန် အသင်တို့သည် ဖုံးကွယ်လျက်ရှိသော အရာခပ်သိမ်းတို့ကိုလည်းကောင်း၊ ထင်ပေါ်လျက်ရှိသော အရာခပ်သိမ်းတို့ကိုလည်းကောင်း၊ (အကြွင်းမဲ့) သိရှိတော်မူသော အရှင်မြတ်အထံတော်သို့ ပြန်လည်ပို့ဆောင်ခြင်းကို ခံကြရပေမည်။ ထိုအခါ ထိုအရှင်မြတ်သည် အသင်တို့အား အသင်တို့ပြုလုပ်ခဲ့ကြသော အမှုကိစ္စတို့ကို ထုတ်ဖော်၍ မိန့်ကြားတော်မူပေအံ့။ [၁]

---

(၁) ကုရ်အာန်ကျမ်းမြတ်၏ ဤကဏ္ဍ အပိုဒ်(၇-၁၃)တွင် များသောအားဖြင့် မုနာဖစ်က်များ၏ အကြောင်းများကိုပင် ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။ ဤအာယတ်တော်သည်လည်း ထိုမုနာဖစ်က်များနှင့် သက်ဆိုင်ပေသည်။

ဤအာယတ်တော် ကျရောက်လာခဲ့သည့်အချိန်ကား တဗူးက်စစ်ပွဲသို့ မွတ်စ်လင်မ်စစ်သည်တော်များ ချီတက် ခရီးသွားနေခဲ့ကြသည့်အချိန်ပင် ဖြစ်သည်။ မွတ်စ်လင်မ်စစ်သည်များ စစ်ပွဲအောင်နိုင်ပြီး မဒီနာမြို့သို့ ပြန်ရောက်၍ မုနာဖစ်က်များနှင့်တွေ့ဆုံသည့်အခါ၊ မုနာဖစ်က်များက မွတ်စ်လင်မ်တို့အား စစ်ပွဲသို့ မိမိတို့ မလိုက်ပါနိုင်ခဲ့ကြသည်နှင့်စပ်လျဉ်း၍ အကြောင်းအမျိုးမျိုး ပြကြမည့်အကြောင်း ဤအာယတ်တော်တွင် ➤➤

٩٥။ မကြာမြင့်မီ အသင်တို့(စစ်တလင်းမှ) ၎င်းတို့ထံ (မဒီနာမြို့သို့) ပြန်ခဲ့ကြသောအခါ၊ အသင်တို့သည် ၎င်းတို့အား (တစုံတရာ ပြစ်တင်အရေးယူခြင်း မပြုပဲ) ခွင့်လွှတ်ကြရန် ၎င်းတို့သည် အလ္လာဟ် အရှင်မြတ်အား တိုင်တည်၍ ကျိန်ဆိုကြပေလိမ့်မည်။

သို့ဖြစ်ပေရာ အသင်တို့သည် ၎င်းတို့အား စွန့် ထားကြလေကုန်။ အမှန်သော်ကား ၎င်းတို့သည် ညစ်ညမ်းသူများပင် ဖြစ်ကြကုန်၏။ ထို့ပြင် ၎င်းတို့၏ခိုလှုံရာစခန်းသည် "ဂျဟန္နမ်" ငရဲဘုံပင် ဖြစ်ချေသည်။ စင်စစ်သော်ကား ၎င်းတို့ ရှာဖွေဆည်းပူးလျက်ရှိခဲ့ကြသည်တို့၏ အကျိုးအားဖြင့် ၎င်းတို့၏ခိုလှုံရာစခန်းမှာ "ဂျဟန္နမ်" ငရဲဘုံပင် ဖြစ်ချေသတည်း။ ၁

سَيَحْلِفُونَ بِاللَّهِ لَكُمْ إِذَا انْقَلَبْتُمْ إِلَيْهِمْ لِتُعْرِضُوا عَنْهُمْ ۖ فَأَعْرِضُوا عَنْهُمْ ۖ إِنَّهُمْ رِجْسٌ ۖ وَمَأْوَاهُمْ جَهَنَّمُ جَزَاءً بِمَا كَانُوا يَكْسِبُونَ ﴿٩٥﴾

---

➤➤ ကြိုတင် ဗျာဒိတ်ပေးထားတော်မူခြင်းဖြစ်သည်။

ဗျာဒိတ်ပေးထားတော်မူသည့်အတိုင်း မုနာဖစ်က်များသည် မွတ်စ်လင်မ်တို့အား အကြောင်းအမျိုးမျိုး တင်ပြခဲ့ကြ၏။ ယင်းသို့အကြောင်းအမျိုးမျိုး တင်ပြကြသည့်အခါ အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား မွတ်စ်လင်မ်တို့ဘက်မှ "အသင်တို့ အကြောင်းထုးထွေ ပြမနေကြနှင့်၊ ငါတို့သည် အသင်တို့၏အကြောင်းပြချက်များကို မှန်သည်ဟူ၍ အလျင်းယုံကြည်ကြမည် မဟုတ်ပေ၊ အလ္လာဟ် အရှင်မြတ်သည် အသင်တို့ ဖုံးကွယ်ထားကြသည့် အကြောင်းကို ငါတို့အား အသိပေးတော်မူပြီး ဖြစ်နေသည်" ဟု ဖြေကြားစေတော်ခဲ့မူလေသည်။ မာဂျိဒီ၊ အ-၂၊ စ-၄၂၁၊ အအ-၁၆၉။

"၎င်းပြင် (နောင်တွင်လည်း) အလ္လာဟ် အရှင်မြတ်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ တမန်တော်မြတ်သည်လည်းကောင်း၊ အသင်တို့၏ အကျင့်အမူများကို (မကြာမီအတွင်း) တွေ့မြင်တော်မူကြမည်"။ (ဝါ) အသင်တို့သည် 'ကုဖ်ရ်' မှ ဝန်ချတောင်းပန်ကြမည်၊ သို့တည်းမဟုတ် 'ကုဖ်ရ်' အပေါ်၌ပင် တည်ရှိနေကြမည်ကို အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏တမန်တော်သည် မြင်တော်မူကြမည်သာဖြစ်သည်။ တနည်းအားဖြင့် ဤသို့ ဗျာဒိတ်ပေးထားတော်မူခြင်းမှာ ဝန်ချတောင်းပန်စေရန်နှင့် ဝန်ချတောင်းပန်နိုင်ရန်အတွက် အချိန်ပေးထားတော်မူခြင်းပင် ဖြစ်သည်။

(၁) တဗူးက်စစ်ပွဲမှ မွတ်စ်လင်မ်များ ပြန်လာကြသည့်အခါ မုနာဖစ်က်များသည် စစ်ပွဲသို့ မိမိတို့ မလိုက်ပါနိုင်ခဲ့ကြသည်နှင့်စပ်လျဉ်း၍ လိမ်လည်ကျိန်ဆိုကာ အကြောင်းအမျိုးမျိုး ပြကြလေသည်။ ယင်းသို့ ကျိန်ဆိုအကြောင်းပြကြခြင်းမှာမွတ်စ်လင်မ်တို့က၎င်းတို့အား ကဲ့ရဲ့ပြစ်တင်ခြင်းအရေးယူခြင်းများ မပြုလုပ်ကြရန်ပင်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်ကမွတ်စ်လင်မ်တို့အား ယင်းမုနာဖစ်က်များကိုလျစ်လျူပြုထားကြရန် အမိန့်ပေးတော်မူသည်။ ဤသို့ လျစ်လျူပြုထားခြင်းသည် ကျေနပ်နှစ်သက်၍ အလျင်းမဟုတ်၊ အမှန်စင်စစ် မုနာဖစ်က်များသည် အလွန့်အလွန် ➤➤

يَحۡلِفُونَ لَكُمۡ لِتَرۡضَوۡا عَنۡهُمۡ فَإِن تَرۡضَوۡا عَنۡهُمۡ فَإِنَّ ٱللَّهَ لَا يَرۡضَىٰ عَنِ ٱلۡقَوۡمِ ٱلۡفَٰسِقِينَ ٩٦

၉၆။ ထိုသူတို့သည် အသင်တို့ ထိုသူတို့အပေါ်၌ ကျေနပ်အံ့သောငှာ ကျိန်ဆိုကြပေမည်။ သို့ရာတွင် အကယ်၍ အသင်တို့သည် ထိုသူတို့အပေါ်၌ ကျေနပ်ခဲ့အံ့ငြားလည်း အလ္လာဟ်အရှင်မြတ်သည် အမိန့်တော်ဖီဆန်သူတို့အပေါ်၌ ကျေနပ်တော်မူမည် မဟုတ်ပေတကား။[၁]

ٱلۡأَعۡرَابُ أَشَدُّ كُفۡرٗا وَنِفَاقٗا وَأَجۡدَرُ أَلَّا يَعۡلَمُواْ حُدُودَ مَآ أَنزَلَ ٱللَّهُ عَلَىٰ رَسُولِهِۦۗ وَٱللَّهُ عَلِيمٌ حَكِيمٞ ٩٧

၉၇။ ကျေးရွာများ၌ နေထိုင်ကြကုန်သော အရပ်အမျိုးသား(မုနာဖစ်က်)များသည် "ကုဖ်ရ်" သွေဖည်ငြင်းပယ်မှုတွင်လည်းကောင်း၊ "နိဖာက်" အယောင်ဆောင်မှုတွင်လည်းကောင်း၊ *ပိုမို၍ပင် ပြင်းထန်ကြကုန်၏။*[၂] ၎င်းပြင် ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်က မိမိ၏ ရစူလ်တမန်တော်မြတ်အပေါ်၌ ချပေးသနားတော်မူသော အမိန့်ပညတ်တော်များကို ပို၍ပင် မသိထိုက်ကြသူများ ဖြစ်ကြ၏။ စင်စစ်မူကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော်မူသောအရှင်၊ နက်နဲသိမ်မွေ့သော ကျိုးကြောင်း ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

➤➤ ညစ်ညမ်းကြပေသည်၊ ၎င်းတို့သည် သန့်ရှင်းလာကြလိမ့်မည်ဟု မျှော်လင့်ရန် အကြောင်း အလျင်းမရှိ၊ သို့ဖြစ်ပေရာ ဤမျှညစ်ညမ်းနေကြသော မုနာဖစ်က်များကို လျစ်လျူပြုထားခြင်းသည်ပင် သင့်ပေသည်။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့၏ အကျင့်အကြံအတိုင်း ၎င်းတို့နှင့် ထိုက်တန်ရာ ဂျဟန္နမ်သို့ လာစေတော်မူမည်သာဖြစ်သည်။

(၁) မုနာဖစ်က်များသည် မွတ်စ်လင်မ်တို့အား ကျေနပ်စေရန်အတွက် မုသားကျိန်ဆိုကြသည်။ အကယ်၍ တစ်ဦးတယောက်သည် မုနာဖစ်က်များအပေါ်၌ ကျေနပ်သည်ရှိသော် ယင်းကျေနပ်မှုကို အလ္လာဟ်အရှင်မြတ် ကျေနပ်တော်မမူပါက အသို့လျှင် အကျိုးရှိနိုင်အံ့နည်း။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင် မည်သူတဦးတယောက်မျှ လိမ်လည်လှည့်ဖြားနိုင်သည်မရှိချေ။

ဆိုလိုသည်ကား အကြင်သူတစ်ဦးကို အလ္လာဟ်အရှင်မြတ် ကျေနပ်တော်မမူပါလျှင်၊ ထိုအရှင်မြတ်အား အလွန်တရာ ကြည်ညိုမြတ်နိုးသော မုအ်မင်န်တစ်ဦးသည် ထိုအရှင်မြတ် ကျေနပ်တော်မမူသောသူအား အသို့လျှင် ကျေနပ်မည်နည်း။ သို့ဖြစ်ပေရာ မုနာဖစ်က်များသည် "ငါတို့သည် တမန်တော်မြတ်နှင့် ➤➤

၉၈။ စင်စစ်သော်ကား၊ ကျေးရွာများ၌ နေထိုင်ကြကုန်သော အရဗ်အမျိုးသားတို့တွင် (ဇကာတ်၊ ဂျိဟာဒ် စသည့် မွန်မြတ်သောကိစ္စများတွင်) မိမိတို့ သုံးစွဲကြသည်တို့ကို "ဒဏ်ဆောင်ခြင်း ဖြစ်သည်" [၁] ဟု မှတ်ယူကြသူများလည်း ရှိကြကုန်၏၊ ၎င်းပြင် ထိုသူတို့သည် အသင်တို့နှင့်ပက်သက်၍ အလှည့်ကြုံခြင်းများကို စောင့်မျှော်နေကြကုန်၏။ (အမှန်အားဖြင့်) ထိုသူတို့အပေါ်၌ပင် မကောင်းသော အလှည့်ကြုံခြင်းသည်ရှိပေသည်။ အမှန်သော်ကားအလ္လာဟ်အရှင်မြတ်သည် အလုံးစုံတို့ကို ကြားတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို သိတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

وَمِنَ الْأَعْرَابِ مَنْ يَتَّخِذُ مَا يُنْفِقُ مَغْرَمًا وَيَتَرَبَّصُ بِكُمُ الدَّوَائِرَ ۚ عَلَيْهِمْ دَائِرَةُ السَّوْءِ ۗ وَاللَّهُ سَمِيعٌ عَلِيمٌ ﴿٩٨﴾

၉၉။ ထို့အပြင် ကျေးရွာများ၌ နေထိုင်ကြကုန်သောအရဗ်အမျိုးသားတို့တွင် အလ္လာဟ်အရှင်မြတ်ကိုလည်းကောင်း၊ နောက်ဆုံးနေ့ကိုလည်းကောင်း၊ ယုံကြည်သူများလည်း ရှိကြကုန်၏။

وَمِنَ الْأَعْرَابِ مَنْ يُؤْمِنُ بِاللَّهِ وَالْيَوْمِ الْآخِرِ

---

➤➤ မွတ်စ်လင်မ် တို့အား လိမ်လည် လှည့်ဖြား၍ ကျေနပ်အောင် ပြုလုပ်ကြမည်" ဟူသော အထင်ကို မိမိတို့၏ ဦးနှောက်တွင်းမှ ထုတ်ပစ်သင့်ပေသည်။ ထို့ပြင်တဝ မုနာဖစ်က်တို့အား မွတ်စ်လင်မ်တို့၏ လျစ်လျူပြုထားခြင်းကို ကြည့်၍ မွတ်စ်လင်မ်များသည် မုနာဖစ်က်တို့အား ကျေနပ်ကြသည်ဟူ၍လည်း မထင်မှားရာချေ။

(၂) အထက်တွင် မဒီနာမြို့သား မုနာဖစ်က်များနှင့် စိတ်စေတနာဖြူစင်သော မုအ်မင်န်တို့၏ အကြောင်းပါရှိ၏။ ယခု ဤအာယတ်တော်တွင် အရဗ်ကျေးတောသားများ၏ အကြောင်း မိန့်ဆိုထားတော်မူသည်။ အရဗ်ကျေးတောသားများတွင်လည်း လူတန်းစား အမျိုးမျိုးရှိကြသည်။ ၎င်းတို့တွင် ကာဖိရ်များလည်း ရှိကြသည်၊ မုနာဖစ်က်များလည်း ရှိကြသည်။ စိတ်စေတနာဖြူစင်သော မုအ်မင်န်များလည်း ရှိကြသည်။

(၁) အရဗ်ကျေးတောသား မုနာဖစ်က်များတွင် အချို့မုနာဖစ်က်များသည် အခါအခွင့်အကြောင်းသင့်၍ တကြိမ်တခါ အလ္လာအရှင်မြတ်၏ လမ်းတော်၌ လှူဒါန်းကြရသည်ကိုပင် ဒဏ်ဆောင်ရသည့်အလား စိတ်မပါ၊ လက်မပါ ငြိုငြင်စွာနှင့် ပေးကြလေသည်၊ ယင်းမုနာဖစ်က်တို့သည် မွတ်စ်လင်မ်တို့အပေါ်၌ ဘေးအန္တရာယ် တစုံတရာ ဆိုက်ရောက်လာခြင်းကိုပင် မျှော်လင့်စောင့်တနေကြသည်။ အမှန်မှာ ဘေးအန္တရာယ်သည် ယင်းကာဖိရ် မုနာဖစ်က်တို့အပေါ်၌ ဆိုက်ရောက်မည်သာ ဖြစ်သည်။ မွတ်စ်လင်မ်တို့သည် အောင်နိုင်ကြမည်။ ➤➤

وَيَتَّخِذُ مَا يُنْفِقُ قُرُبٰتٍ عِنْدَ اللّٰهِ وَصَلَوٰتِ الرَّسُوْلِ ۭ اَلَآ اِنَّهَا قُرْبَةٌ لَّهُمْ ۭ سَيُدْخِلُهُمُ اللّٰهُ فِيْ رَحْمَتِهٖ ۭ اِنَّ اللّٰهَ غَفُوْرٌ رَّحِيْمٌ ۹۹

ထိုသူတို့သည် (မှန်မြတ်သော ကိစ္စများ)၌ မိမိတို့ သုံးစွဲကြသည်များကို "အလ္လာဟ်အရှင်မြတ် အထံတော်တွင် ချဉ်းကပ်ရန် အကြောင်းဖြစ်သည်" ဟူ၍လည်းကောင်း၊ "ရစူလ်တမန်တော်(မုဟမ္မဒ်)၏ ဆုမွန်များရယူရန် အကြောင်းဖြစ်သည်" ဟူ၍လည်း ကောင်း မှတ်ယူကြကုန်၏။ သတိပြုကြလေကုန်၊ ဧကန်မလွဲ ထိုသုံးစွဲသူများသည် ၎င်းတို့အဖို့ ချဉ်းကပ်ရန်အကြောင်းပင်ဖြစ်ပေသည်။ ဧကန်အမှန် အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့အား *မိမိကရုဏာတော်တွင် ပါဝင်စေတော်မူအံ့။* [၁] ဧကန်မလွဲ အလ္လာဟ်အရှင် မြတ်သည် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသော အရှင်၊ အလွန်တရာသနား ကြင်နာ ညှာတာတော်မူသောအရှင်၊ ဖြစ်တော်မူပေ သတည်း။

---

➤➤ လွှမ်းမိုးကြမည်၊ အရေးသာကြမည်။ မုနာဖစ်က်တို့မှာမူကား၊ ရှက်ရ၊ ကြောက်ရ၊ အကျိုးနည်းကြရမည်။ ရှုံးနိမ့်ကြရမည်သာဖြစ်သည်။ ဤသည့်အချက်ကိုပင် ယင်းမုနာဖစ်က်တို့မှာ မသိကြချေတကား။

(၁) အထက်တွင် ရေးသားဖေါ်ပြခဲ့သည့်အတိုင်း အရဗ်ကျေးတောသားများသည် စိတ်ဓာတ်အလွန်တရာမျှ ခက်ထန်ကြ၏၊ နူးညံ့သိမ်မွေ့ခြင်း အလျင်းမရှိ၊ ကုဖ်ရ်သွေဖည်မှု၊ နိဖာက်အရေခြုံမှု၊ ဂျဟ်လ် မိုက်မဲမှု၊ "တွဃ်ယာန်" ကျူးလွန် ပုန်ကန်မှုများတွင် နစ်မွန်းနေကြ၏။ ယင်းဒုစရိုက်မှုများတွင် နစ်မွန်းနေကြသည့်အတွက် အလ္လာဟ်အရှင်မြတ် ဟောကြားထားတော်မူသည့် တရားဒေသနာတော်နှင့် နူးညံ့သိမ်မွေ့မှု၊ ယဉ်ကျေးမှု၊ ရိုသေကိုင်းရှိုင်းမှုများကိုပင် နားမလည်နိုင်ခဲ့ကြပေ။

သို့သော် အရဗ် ကျေးတောသားများ တွင်ပင်လျှင် ကုရ်အာန် ကျမ်းမြတ်၏ ဓမ္မဒေသနာတော် များနှင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အဆုံးအမ ဩဝါဒတော်များ၏ အဟုန်ဖြင့် စိတ်စေတနာ ဖြူစင်သော သူတော်စင် ပုဂ္ဂိုလ်များလည်း ထွက်ပေါ်လာခဲ့သည်။ ထိုပုဂ္ဂိုလ်များသည် အလ္လာဟ် အရှင်မြတ်အား ယုံကြည်မြတ်နိုးကြသည်၊ နောက်ဆုံးနေ့ကိုလည်း ယုံကြည်ကြသည်၊ အခြားယုံကြည်ရမည့် အရာအားလုံးတို့ကိုလည်း ယုံကြည်ကြသည်။ ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ်၏ ထံတော်ပါးသို့ ချဉ်းကပ်ရန်နှင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဆုမွန်များကို ခံယူရန်အတွက် ထိုအရှင်မြတ်၏လမ်းတော်၌ သုံးစွဲလှူဒါန်းကြသည်။ အရဗ် ကျေးတောသားတို့တွင် ဤသို့သော စိတ်စေတနာ ဖြူစင်သော မုအ်မင်န် သူတော်စင်များလည်း ရှိကြပေသေးသည်၊ ၎င်းတို့၏ ယုံကြည်ချက်သည်မှန်၏၊ ၎င်းတို့၏ အပြုအမူသည် မှန်၏၊ ၎င်းတို့၏ လိုလားချက်သည် မှန်၏။ ၎င်းတို့၏ လိုအင်ဆန္ဒသည် ပြည့်ဝမည် ဖြစ်၏။ ➤➤

وَالسّٰبِقُوْنَ الْاَوَّلُوْنَ مِنَ الْمُهٰجِرِيْنَ وَالْاَنْصَارِ وَالَّذِيْنَ اتَّبَعُوْهُمْ بِاِحْسَانٍ ۙ رَّضِيَ اللّٰهُ عَنْهُمْ وَرَضُوْا عَنْهُ وَاَعَدَّ لَهُمْ جَنّٰتٍ تَجْرِيْ تَحْتَهَا الْاَنْهٰرُ خٰلِدِيْنَ فِيْهَآ اَبَدًا ۗ ذٰلِكَ الْفَوْزُ الْعَظِيْمُ ﴿١٠٠﴾

**၁၀၀။** (အီမာန်သက်ဝင်ယုံကြည်ရာတွင် အွမ္မတ်သား အားလုံးတို့ထက်) ရှေးဦးပထမ ဖြစ်ကြကုန်သော မုဟာဂျိရိန် သာဝကကြီးများသည် လည်းကောင်း၊ အန်ဆွာရ် (သာဝကကြီး)များသည် လည်းကောင်း၊ ထို(မုဟာဂျိရိန်နှင့် အန်ဆွာရ်)တို့၏နောက်သို့ ကောင်းမွန်စွာ လိုက်ရဲကြသူတို့သည်လည်းကောင်း၊ အလ္လာဟ် အရှင်မြတ်သည် ထိုသူတို့အပေါ်၌ ကျေနပ်တော်မူခဲ့လေပြီ၊ ထိုသူတို့သည်လည်း *ထိုအရှင်မြတ်အပေါ်၌ ကျေနပ်ခဲ့ကြလေပြီ၊* [၁] ၎င်းပြင် ထိုအရှင်မြတ်သည် ၎င်းတို့အဖို့ အကြင်ဥယျာဉ်များကို အဆင်သင့်ပြုလုပ်၍ ထားရှိတော်မူခဲ့လေသည်။ ထိုဥယျာဉ်များ၏ အောက်၌ စမ်းချောင်းများ စီးထွေလျက် ရှိကြပေသည်။ (၎င်းတို့သည်) ထိုဥယျာဉ်များတွင် ထာဝစဉ် နေထိုင်စံမြန်းလျက် ရှိကြပေမည်။ ဤကား ကြီးကျယ်မြင့်မြတ်လှသော အောင်မြင်မှုပင်တည်း။

---

➤➤ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား မိမိ၏ကရုဏာတော်တွင် ခိုလှုံစေတော်မူမည်ဖြစ်၏။ ၎င်းတို့သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဆုမွန်ကိုလည်း ခံယူကြရမည်ဖြစ်သည်။ ဤသည်၎င်းတို့အဖို့ မျက်မြင် ကိုယ်တွေ့ကိစ္စပင်ဖြစ်၏။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ထံသို့ တဦးတယောက်သောသူသည် လှူဖွယ်ပစ္စည်း တစုံတရာ လာရောက်လှူဒါန်းလျှင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ထိုသူ့အဖို့ ဆုမွန်ကောင်း တောင်းပေးတော်မူလေ့ရှိသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဆုမွန်၏ အကျိုးမှာလည်း အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို ခိုလှုံရန်နှင့် ထိုအရှင်၏ထံတော်ပါးသို့ ချဉ်းကပ်ရန်ပင်ဖြစ်ပေသည်။

(၁) အထက်တွင် ကျေးတောသား မုအ်မင်န်တို့အကြောင်းပါရှိ၏၊ ယခုဤအာယတ်တော်တွင် ဦးစွာပထမ ဟစ်ဂျ်ရတ်ပြုလုပ်ခဲ့ကြသော မုဟာဂျိရိန်များနှင့် ဦးစွာပထမ ကူညီယိုင်းပင်းခဲ့ကြသော အန်ဆွာရ်များ၏အကြောင်းကို မိန့်ဆိုထားတော်မူသည်။ တနည်းအားဖြင့် အမှန်တရားကိုလက်ခံမှုနှင့် အစ္စလာမ်သာသနာရေးကိစ္စ ဆောင်ရွက်မှုတွင် သူတပါးတို့ထက် ရှေးဦးကျကြသော ပုဂ္ဂိုလ်များနှင့် ထိုပုဂ္ဂိုလ်များ၏လမ်းစဉ်ကို နှစ်နှစ်ကာကာ စိတ်စေတနာဖြူစင်စွာဖြင့် လိုက်နာကျင့်သုံးရဲခဲ့ကြသော ပုဂ္ဂိုလ်များသည် အဆင့်ဆင့် အချိုးကျ အလ္လာဟ်အရှင်မြတ်၏ ကျေနပ်နှစ်သက်မှုနှင့် မှန်ကန်သောအောင်မြင်မှုကို ရရှိခဲ့ကြလေပြီ။ ထိုထိုသော ပုဂ္ဂိုလ်များသည် တကယ်နှစ်နှစ်ကာကာ စိတ်စေတနာဖြူစင်စွာဖြင့် အလ္လာဟ်အရှင်မြတ်၏ တရားဥပဒေဆိုင်ရာ အမိန့်ပညတ်တော်များနှင့် စတင်ဖန်ဆင်းခြင်းဆိုင်ရာ အဆုံးအဖြတ်တော်ကို ဦးလည်မသုန် လိုက်နာခဲ့ကြသည့်အတိုင်း အလ္လာဟ် ➤➤

➤➤ အရှင်မြတ်သည်လည်း ၎င်းတို့အား ကျေနပ်နှစ်သက်တော်မူကာ အတိုင်းအဆမရှိသော ကျေးဇူးတော်များကို ချီးမြှင့်တော်မူခဲ့လေသည်။

"ရှေးကျသော၊ ဦးစွာပထမဖြစ်သော ပုဂ္ဂိုလ်များ" ဟူသည်ကား မည်သူမည်ဝါတို့နည်း၊ ဤတွင် အဆိုအမျိုးမျိုးရှိကြောင်း တွေ့ရပေသည်။

"ရှေးကျသော ဦးစွာပထမဖြစ်သော ပုဂ္ဂိုလ်များ" ဟူသည် . . .

၁။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ဟစ်ဂျ်ရတ် မပြုမီအလျင် အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ခဲ့ကြသော မုဟာဂျီရိန်နှင့် အန်ဆွာရ်များ ဖြစ်ကြသည်ဟု အချို့ကဆိုသည်။

၂။ 'ကအ်ဗဟ်' နှင့် 'ဗိုင်တုလ်မုကဒ်ဒတ်စ်' "ကစ်ဗ်လဟ်" နှစ်ခုလုံးဘက်သို့ မျက်နှာမူ၍ ဆွလာတ် ဝတ်ပြုခဲ့ကြသော ပုဂ္ဂိုလ်များဖြစ်ကြသည်ဟု အချို့ကဆိုသည်။

၃။ 'ဗဒ်ရ်' စစ်ပွဲဖြစ်ပွားသည့် အချိန်ကာလမတိုင်မီ အတောအတွင်း အီမာန်သက်ဝင် ယုံကြည်ခဲ့ကြသော ပုဂ္ဂိုလ်များဖြစ်ကြသည်ဟု အချို့ကဆိုကြသည်။

၄။ "ဟုဒိုင်ဗိယက်" စစ်ပြေငြိမ်းရေး စာချုပ်ချုပ်ဆိုသည့် အချိန်ကာလမတိုင်မီ အတောအတွင်း အီမာန် သက်ဝင်ယုံကြည်ခဲ့သော ပုဂ္ဂိုလ်များဖြစ်ကြသည်ဟု အချို့ကဆိုသည်။

၅။ အချို့ပညာရှင်များက အားလုံးသော မုဟာဂျီရိန်နှင့် အန်ဆွာရ်များသည် အခြားနယ်ပယ်ရှိ မွတ်စ်လင်မ်များ၊ နောက်နောင် ပေါက်ပွားထွန်းကားလာကြမည့် လူသားတို့နှင့်စာလျှင် "ရှေးကျသော ဦးစွာပထမ ဖြစ်ကြသော" ပုဂ္ဂိုလ်များ ဖြစ်ကြသည်ဟု ဆိုကြသည်။

အထက်ဖော်ပြပါ အဆိုများသည် အဆိုတရပ်နှင့်တရပ် ပြောပလောက်အောင် ကွဲပြားသည် မရှိချေ။ အဘယ်ကြောင့်ဆိုသော် "ရှေးကျခြင်း" "ဦးစွာပထမဖြစ်ခြင်း" ဟူသည် အခြားအကြောင်းအရာများနှင့် ဆက်စပ်နှိုင်းယှဉ် ထောက်ရှုခြင်းအားဖြင့် သိရှိရသောစကားများဖြစ်သည်။ လူတဦးတယောက်သည်ပင် အခြားပုဂ္ဂိုလ်နှင့် နှိုင်းစာလျှင် ရှေးကျ၍ အခြားနောက်တဦးနှင့် နှိုင်းစာလျှင် နောက်ကျနိုင်ပေသည်။ အချုပ်အားဖြင့် အကြင်ပုဂ္ဂိုလ်သို့မဟုတ် အကြင်အုပ်စုတစုသည် အကြင်အဆင့်အတန်း၌ ရှေးကျအံ့၊ ဦးစွာပထမဖြစ်အံ့၊ ထိုအဆင့်အတန်းနှင့်အမျှ အလ္လာဟ်အရှင်မြတ်၏ ကျေနပ်နှစ်သက်မှုနှင့် မှန်ကန်သော အောင်မြင်မှုကို ချီးမြှင့်ခြင်းခံကြရပေမည်။ အဘယ်ကြောင့်ဆိုသော် ရှေးကျခြင်း၊ ပထမဖြစ်ခြင်း၌ အဆင့်အတန်း အမျိုးမျိုးရှိသကဲ့သို့ နှစ်သက်ကျေနပ်မှု အောင်မြင်မှု၌လည်း အဆင့်အတန်းအမျိုးမျိုး အစားစား ရှိနိုင်ပေသည်။

**<u>မှတ်သားဖွယ်</u>**

"ဝလ်ဧီး ဏတ္တဗအူဟွန်မ် အိဟ်စာန်" ဟူသော ဝါကျတွင် ကိယာမတ်နေ့တိုင် ပေါက်ပွားထွန်းကားမည့် "အုမ္မတ်" အစ္စလာမ်သာသနာဝင်အားလုံးတို့သည် အကျုံးဝင်ပေသည်။ ဤဝါကျတွင် ဗိအိဟ်စာန် "ကောင်းမှုပြုရာ၌" ဟူသော စည်းကမ်းချက်ကို အထူးသတိပြုအပ်ပေသည်။ အဘယ်ကြောင့်ဆိုသော် မုဟာဂျီရိန်များဖြစ်စေ၊ အန်ဆွာရ်များဖြစ်စေ၊ ဆွဟာဗဟ်သာဝကကြီးများအနက် မည်သည့်အမျိုးအစားပင်ဖြစ်စေ၊ ၎င်းတို့အားလုံးသည် "မအ်ဆွူမ်" အပြစ်မဲ့ပုဂ္ဂိုလ်များ မဟုတ်ကြပေ။

"အီဆ္မတ်" အပြစ်မဲ့ခြင်းသည် နဗီတမန်တော်များ၏ ထူးခြားလှသည့် ဂုဏ်အင်ဒြပ်တရပ်ဖြစ်သည်။ ထို့အတွက်ကြောင့် ထိုဆွဟာဗဟ်သာဝကကြီးများ၏လမ်းစဉ်ကို လိုက်နာရာတွင် ချွင်းချက်မဲ့မဟုတ်ပဲ **ဗိအိဟ်စာန်** "ကောင်းမှုပြုရာ၌" ဟူသော စည်းကမ်းချက်ဖြင့် အမိန့်ပေးထားတော်မူခြင်းဖြစ်သည်။

(ကြည့်-မာဂျိဒီ၊ အစောင် ၂၊ စ- ၄၂၂၊ အအ- ၁၀၃။)

وَمِمَّنْ حَوْلَكُمْ مِّنَ الْأَعْرَابِ مُنٰفِقُوْنَ ۛؕ وَمِنْ اَهْلِ الْمَدِيْنَةِ ۛؔ مَرَدُوْا عَلَى النِّفَاقِ ۫ لَا تَعْلَمُهُمْ ؕ نَحْنُ نَعْلَمُهُمْ ؕ سَنُعَذِّبُهُمْ مَّرَّتَيْنِ ثُمَّ يُرَدُّوْنَ اِلٰى عَذَابٍ عَظِيْمٍ ۚ﴿۱۰۱﴾

**၁၀၁။** ထို့ပြင် အသင်တို့၏ *ပတ်ဝန်းကျင်၌ ရှိကြကုန်သော* [၁] အရပ်ကျေးတောသားတို့တွင်လည်းကောင်း၊ မဒီနာမြို့သားတို့တွင်လည်းကောင်း၊ အကြင်ကဲ့သို့သော "မုနာဖစ်က်" မွတ်စ်လင်မ်အယောင်ဆောင်သောသူများ ရှိကြကုန်၏။ ထိုသူတို့သည် "နိဖာက်" အယောင်ဆောင်မှု၌ပင် ဖွတ်မှိတ်၍ စွဲမြဲစွာနေခဲ့ကြလေသည်။ *အသင်တို့သည် ထိုသူတို့အားမသိချေ။* [၂]

ငါအရှင်မြတ်သည် ထိုသူတို့အား သိတော်မူ၏။ မကြာမြင့်မီပင် ငါအရှင်မြတ်သည် ၎င်းတို့အား နှစ်ကြိမ်တိုင်တိုင် ပြစ်ဒဏ်ပေးတော်မူမည်၊ တဖန် ၎င်းတို့သည် ကြီးလေးလှသော ပြစ်ဒဏ်ကို ရောက်စေခြင်းကို ခံကြရပေမည်။ [၃]

---

(၁) "အသင်တို့၏ပတ်ဝန်းကျင်" ဟူသည် "အသင်တို့၏ (မဒီနာ)မြို့တော်၏ ပတ်ဝန်းကျင်" ကို ဆိုလိုသည်။ (မဒါရစ်က်။)

(မရဒူ အလန်းနိဖာက်)၏ အနက်အဓိပ္ပါယ်ကို အောက်ပါအတိုင်း အမျိုးမျိုးဖွင့်ဆိုကြသည်။

၁။ ထိုသူများသည် နိဖာက်အပေါ်၌ တည်နေခဲ့ကြ၏၊ အခြားသူများ ဝန်ချတောင်းပန်သကဲ့သို့ ဝန်ချတောင်းပန်ခြင်း မပြုခဲ့ကြပေ။ (အစ်ဗ်နဂျရိရ်)

၂။ ထိုသူများသည် နိဖာက်အပေါ်၌ တည်နေခဲ့ကြ၏၊ အမြဲတစေ စွဲလန်းနေခဲ့ကြ၏၊ ထိုနိဖာက်မှ ဝန်ချ တောင်းပန်ခြင်း မပြုခဲ့ကြပေ။ (ကဗီရ်)

၃။ ထိုသူများသည် နိဖာက်တွင် ကျွမ်းကျင်လိမ္မာ ပါးနပ်ခဲ့ကြ၏။

(၂) မဒီနာမြို့၏ပတ်ဝန်းကျင်ရှိ အရပ်ကျေးတောသားများတွင်လည်းကောင်း၊ မဒီနာမြို့သားများတွင်လည်းကောင်း၊ အချို့ဤသို့သော မုနာဖစ်က်များ ရှိကြပေသည်။ အလွန်ထူးကဲတော်မူသော ဉာဏ်ပညာ အမြော်အမြင်ကြီးမား ထက်မြက်တော်မူသော သတိ၊ ဝိရိယ၊ အလွန်ကြီးမားတော်မူသော တမန်တော်မြတ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)သည်ပင် ထိုမုနာဖစ်က်များအား မုနာဖစ်က်များ ဖြစ်ကြသည်ဟူ၍ သိတော်မမူခဲ့ပေ။ အလ္လာဟ်အရှင်မြတ်သာလျှင် ယင်းမုနာဖစ်က်များအား သိတော်မူပေသည်။

ဤအာယတ်တော်တွင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည်ပင် 'ဂိုက်ဗ်' အကွယ်၌ရှိသောအရာများကို သိတော်မမူကြောင်း အတည့်အလင်း မိန့်ဆိုထားတော်မူသဖြင့် "တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အကွယ်၌ရှိသောအရာများကို သိတော်မူသည်" ဟု အချို့အယောင်ဆောင် အာလင်မ်၊ ဂျာဟိလ်များက ပြောဆိုနေကြခြင်းသည် အသို့လျှင် မှန်ကန်နိုင်အံ့နည်း၊ လုံးဝမှားယွင်းပေသည်။

(၃) မုနာဖစ်က်များသည် နောင်တမလွန်ဘဝ၌ အလွန်ကြီးလေးလှသော ပြစ်ဒဏ်ကိုခံကြရမည်ဖြစ်ကြောင်း:➤➤

وَءَاخَرُونَ ٱعْتَرَفُوا۟
بِذُنُوبِهِمْ خَلَطُوا۟ عَمَلًا صَـٰلِحًا
وَءَاخَرَ سَيِّئًا عَسَى ٱللَّهُ أَن
يَتُوبَ عَلَيْهِمْ ۚ إِنَّ ٱللَّهَ

၁၀၂။ ထို့ပြင် အခြားသူတို့လည်း ရှိကြကုန်၏။ ထိုသူတို့သည် မိမိတို့၏ ပြစ်မှု ဒုစရိုက်များကို ဝန်ခံခဲ့ကြလေသည်။ ထိုသူတို့သည် ကောင်းမြတ်သောအကျင့်အမူနှင့် မကောင်းသောအကျင့်အမူကို ရောနှောပြုလုပ်ခဲ့ကြလေသည်။ အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့ဘက်သို့ ကရုဏာတော်နှင့်လှည့်တော်မူရန် မျှော်ကိုးရာ၏။ ၁

➤➤ ကုရ်အာန်ကျမ်းမြတ် (၄:၁၄၅)တွင်လည်း မိန့်ဆိုထားတော်မူသည်။ ယင်းမုနာဖစ်က်များသည် နောင်တမလွန်ဘဝတွင် ငရဲမလားရသေးမီ အလျင် ဤလောကီဘဝတွင်တကြိမ်၊ သင်္ချိုင်းတွင်း၌တကြိမ် အနည်းဆုံး အပြစ်ဒဏ် နှစ်ကြိမ်တိုင်တိုင် ခံကြရမည်ဖြစ်သည်။

မသေဆုံးမီ လောကီဘဝ၌ပင် ခံစားရမည့်အပြစ်ဒဏ်သည် အမျိုးမျိုးဖြစ်နိုင်ပေသည်။ ဥပမာ သာဝကကြီး အစ်ဗ်နုအဗ္ဗာစ်၏ကျမ်းချက်အရ ... တခါသော် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် "မင်န်ဗရ်" (ဓမ္မပလ္လင်)တော်ပေါ်၌ မတ်တတ်ရပ်တော်မူပြီး၊ လူ (၂၆)ဦးခန့်တို့၏ အမည်နာမ အသီးသီးကို ထုတ်ဖော်ခေါ်တော်မူ၍ "အသင် (ဗလီမှ)ထွက်သွားလော့၊ အသင်သည် မုနာဖစ်က်ဖြစ်သည်" ဟု မိန့်ဆို နှင်ထုတ်တော်မူခဲ့လေသည်။ ဤသို့ အရှက်တကွဲ အကျိုးနည်းဖြစ်ရခြင်းသည်လည်း အပြစ်ဒဏ် တမျိုးပင်။ သို့မဟုတ် ကုရ်အာန်ကျမ်းမြတ် (၉:၈၅)တွင် လာရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ်သည် ယင်းမုနာဖစ်က်တို့၏ ဥစ္စာပစ္စည်း သားသမီးများကိုပင် ၎င်းတို့အဖို့ ပြစ်ဒဏ်ပြုလုပ်ထားတော်မူသည်၊ ဤသို့ဖြင့် မိမိတို့၏သားသမီးများသည်ပင် မိမိတို့အဖို့ အပြစ်ဒဏ်ဖြစ်လျက်ရှိခဲ့လေသည်။ သို့မဟုတ် ယင်းမုနာဖစ်က်များသည် ပထဝီမြေမှသော်လည်းကောင်း၊ မိုးကောင်းကင်မှသော်လည်းကောင်း၊ ကပ်ဆိုက်၍ အသေဆိုးနှင့် သေခဲ့ကြရလေသည်၊ ဤသည်လည်း ပြစ်ဒဏ်တမျိုးပင်။ သို့မဟုတ် ယင်းမုနာဖစ်က်များသည် အစ္စလာမ် သာသနာ၏ တိုးတက်ထွန်းကားမှုကို တွေ့မြင်ပြီး၊ ဒေါသအမျက်ထွက်ကာ အံတခဲခဲ သွားတကြိတ်ကြိတ် ဖြစ်ခဲ့ကြသည်၊ ဤသည်လည်း ၎င်းတို့အဖို့ ပြစ်ဒဏ်တစ်မျိုးပင်။ ဤသည့် ပြစ်ဒဏ်အားလုံးတို့သည်၊ ဤအာယတ်တော်တွင် လာရှိသည့် (မရ်ရတိုင်းန်) "နှစ်ကြိမ်" ဟူသောစကားတွင် အကျုံးဝင်သည်ဟု ကျွန်ုပ် ယူဆသည်။

"နှစ်" ဟူသော ဂဏန်းသည် သာမန်အားဖြင့် အရေအတွက်အားဖြင့်၊ (ဗဟုဝုစ်ကိန်း) အကြိမ်ကြိမ် ဖြစ်ခြင်းအတွက်လည်း ဖြစ်နိုင်သည်။ ကြည့်-ကုရ်အာန်(၆၇:၄)။ သို့မဟုတ် "နှစ်" ဟူသည် နှစ်ကြိမ် ဖြစ်ခြင်းအတွက်လည်း ဖြစ်နိုင်၏။ (ဝါ) မုနာဖစ်က်များသည် (၁) မသေမီအလျင်လည်း အပြစ်ဒဏ်ခံကြရမည်၊ (၂) သင်္ချိုင်းတွင်လည်း အပြစ်ဒဏ်ခံကြရမည်ဟူ၍ ဆိုနိုင်၏။

(၁) မဒီနာမြို့တွင် မောက်မာပလွှားသော မုနာဖစ်က်များ ရှိကြကုန်၏၊ ၎င်းတို့သည် မိမိတို့၏ဆိုးသွမ်းမှုများနှင့် အပြစ်များကို "နိဖာက်" အရေခြုံမှုဖြင့် ဖုံးကွယ်ထားကြသည်။ ယင်းဆိုးသွမ်းမှုများနှင့် အပြစ်များကိုလည်း စွဲမြဲစွာ ကျူးလွန်နေကြ၏။ မဒီနာမြို့တွင် အချို့ဤသို့သော မုအ်မင်န်များလည်း ရှိကြ၏။ ၎င်းတို့သည် လူ့သဘာဝအလျောက် တစုံတရာပြစ်မှုကျူးလွန်မိခဲ့ကြပါလျှင် နောင်တရကာ မဆိုင်းမတွဘဲ မိမိတို့၏ ➤➤



ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် (ပြစ်မှုများကို) အလွန်တရာ လွတ်ငြိမ်း ချမ်းသာခွင့် ပေးသနားတော် မူသောအရှင်၊ (မိမိကျွန်များအပေါ်၌) အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော အရှင် ဖြစ်တော်မူပေသတည်း။

---

➤➤ အပြစ်များကို ဝန်ခံကြ၏။ ၎င်းတို့သည် ကောင်းမှုများကိုလည်း ပြုလုပ်ကြ၏၊ မကောင်းမှုများကိုလည်း ပြုလုပ်ကြ၏၊ ဥပမာ–တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က "တဗူးက်" သို့ စစ်ချီတက်ရန် အားလုံးတို့အား ဆင့်ဆိုထားတော်မူပါလျက် ၎င်းတို့သည် စစ်မြေပြင်သို့မလိုက်ပါခဲ့ကြပေ။ ထို့နောက် ၎င်းတို့သည် ယင်းသို့စစ်မြေပြင်သို့ မလိုက်ပါဘဲ နေခဲ့ကြသည့်အတွက် တကယ်စိတ်တွင်းမှ ဝမ်းနည်းကြေကွဲခဲ့ကြ၏၊ စိတ်စေတနာ ဖြူစင်စွာဖြင့် ဝန်ချတောင်းပန်ခဲ့ကြ၏။ ထို့ပြင်တဝ ၎င်းတို့သည် ဆွလာတ်ဝတ်ပြုကြ၏၊ ဆိုယာမ်ဥပုသ် ဆောက်တည်ကြ၏၊ ဇကာတ်ပေးကြ၏၊ ဟဂျ်ပြုကြ၏၊ တိုက်ပွဲ စစ်ပွဲများတွင် အစဉ်ပါဝင်ခဲ့ကြ၏။ ဤသို့အားဖြင့် အဆိုပါ မွတ်စ်လင်မ်များသည် ကောင်းမှုများကိုလည်း ဆည်းပူးရယူခဲ့ကြ၏၊ ပြစ်မှုကိုလည်း ကျူးလွန်မိခဲ့ကြ၏၊ ဤသို့သော မွတ်စ်လင်မ်တို့အား အလ္လာဟ်အရှင်မြတ်သည် လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူမည်ဖြစ်ကြောင်း မျှော်လင့်ချက်ပေးထားတော်မူသည်။

"မုဖတ်စ်စစ်ရ်" များက ဖွင့်ဆိုရေးသားကြသည်မှာ–ဤအာယတ်တော်သည် သာဝကကြီး အဗူလုဗာဗဟ် နှင့် ၎င်း၏အချို့သော အပေါင်းအဖော်တို့ကြောင့် ကျရောက်လာခဲ့လေသည်။ ၎င်းတို့သည် ပျင်းရိမှု၊ ရေသာခိုမှုများ ကြောင့်သာလျှင် တဗူးက်စစ်မြေပြင်သို့ မလိုက်ဘဲနေခဲ့ကြသည်။ ထို့နောက် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် တဗူးက်စစ်ပွဲမှ ပြန်ကြွလာတော်မူကြောင်း ကြားသိသောအခါ အလွန်တရာ ရှက်ကြောက်၊ ယူကြုံးမရဖြစ်ကြကာ ၎င်းတို့သည်၊ မိမိတို့ကိုယ်တိုင် မိမိတို့ကိုယ်ကို ဗလီ၏တိုင်များတွင် တုပ်နှောင်ပြီး "တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ကိုယ်တော်တိုင် ပြစ်မှုကျူးလွန်သော ကျွန်ုပ်တို့အား မိမိ၏ လက်တော်ဖြင့် ဖြေပေးတော်မမူသမျှကာလပတ်လုံး ကျွန်ုပ်တို့သည် ဤအတိုင်းပင် ဒုက္ခခံနေကြမည်" ဟု ကျိန်တွယ်ပြောဆိုကြ၏။ ဤသည့်အခြင်းအရာကို တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) တွေ့မြင်တော် မူသောအခါ၊ "အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အားဖြေပေးရန် အမိန့်ပေးတော်မမူသမျှ ကာလပတ်လုံး ကျွန်ုပ်သည် ၎င်းတို့အား ဖြေမပေးနိုင်" ဟု အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ ပြောဆိုတော်မူ၏။ နောက်ဆုံးတွင် ဤအာယတ်တော်များ ကျရောက်လာခဲ့လေသည်။ ထိုအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ၎င်းတို့အား ဖြေပေးတော်မူ၍ ၎င်းတို့၏ ဝန်ချတောင်းပန်ချက်ကို အလ္လာဟ်အရှင်မြတ်က လက်ခံ သဘောတူတော်မူလိုက်ပြီဖြစ်ကြောင်း ကောင်းချီးသတင်း ပေးတော်မူလိုက်လေသည်။ ယင်းကဲ့သို့ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က ကြိုးများကို ဖြေပေးတော်မူလိုက်သည့်အခါ ၎င်းတို့သည် မိမိတို့၏ ဝန်ချတောင်းပန်မှုကို ပြည့်စုံစေရန်အတွက် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ သုံးစွဲလှူဒါန်းရန်အလို့ငှာ လှူဖွယ်ပစ္စည်းများကို ယူဆောင်၍ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံသို့ ရောက်ရှိလာခဲ့ ကြလေသည်။ ဤသည့် အကြောင်းနှင့် စပ်လျဉ်း၍ ရှေ့ လာလတ္တံ့သော အာယတ်တော် ကျရောက်လာခဲ့ လေသည်။

خُذْ مِنْ أَمْوَالِهِمْ صَدَقَةً تُطَهِّرُهُمْ وَتُزَكِّيهِمْ بِهَا وَصَلِّ عَلَيْهِمْ إِنَّ صَلَوٰتَكَ سَكَنٌ لَّهُمْ وَاللَّهُ سَمِيعٌ عَلِيمٌ ﴿١٠٣﴾

၁၀၃။ (အို-နဗီတမန်တော်)အသင်သည် ထိုသူတို့၏ ဥစ္စာပစ္စည်းများထဲမှ အလှူဝတ္တုကို လက်ခံယူလိုက်ပါ၊ ယင်းသို့ (အလှူလက်ခံယူလိုက်ခြင်း)အားဖြင့် အသင်သည် ထိုသူများအား *စင်ကြယ်သန့်ရှင်း အပြစ်ကင်းစေနိုင်မည်။* [၁] ထို့ပြင် အသင်သည် ၎င်းတို့အဖို့ *ဆုမွန်တောင်းပါလေ။* [၂] အကြောင်းသော်ကား အသင်၏ ဆုမွန်တောင်းခြင်းသည် ၎င်းတို့အဖို့ ငြိမ်းအေးသက်သာ (နှစ်သိမ့် ကျေနပ်)မှုပင် ဖြစ်ချေသည်။ စင်စစ်တမူကား အလ္လာဟ်အရှင်မြတ်သည် အလုံးစုံတို့ကို ကြားတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို သိရှိတော်မူသောအရှင် ဖြစ်တော်မူချေသည်။

---

(၁) ပြစ်မှုကျူးလွန်ခဲ့ကြသော မွတ်စ်လင်မ်များသည် တပ်နှောင်ခြင်းမှ လွတ်လာကြသောအခါ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား "အို-အလ္လာဟ်အရှင်မြတ်၏ရစူလ်၊ ဤပစ္စည်းများသည် ကျွန်တော်မျိုးတို့ကို နောက်၌ချန်ရစ်စေခဲ့သော ကျွန်တော်မျိုးတို့၏ ဥစ္စာပစ္စည်းများ ဖြစ်ပါသည်၊ သို့ဖြစ်၍ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဤပစ္စည်းများကို လှူဒါန်းပေးကမ်းတော်မူကာဖြင့် ကျွန်တော်မျိုးတို့အား သန့်ရှင်းအောင် ပြုလုပ်ပေးတော်မူပါ" ဟု လျှောက်ထားကြရာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က "အသင်တို့၏ ဥစ္စာပစ္စည်းများထဲမှ တစုံတရာယူရန် ကျွန်ုပ်၌ အခွင့်အာဏာမရှိပါ" ဟု ပြန်လည် ဖြေကြားတော်မူခဲ့စဉ် ထိုအာယတ်တော် ကျရောက်လာခဲ့လေသည်။

"တောင်ဝ်ဗဟ်" ဝန်ချတောင်းပန်ခြင်းဖြင့် အပြစ်များမှ ချမ်းသာခွင့်ရရှိနိုင်ပေသည်။ သို့ရာတွင် တခါတရံ ယင်းသို့ ဝန်ချတောင်းပန်ပြီးသည့်နောက်ပိုင်းတွင်လည်း ချမ်းသာခွင့်ရရှိခဲ့ပြီးသော အပြစ်၏ အညစ်အကြေး အစအန အနံ့အသက် အနည်းငယ် ကျန်နေတတ်သည်။ ယင်းသို့ အညစ်အကြေး အစအန အနံ့အသက် ကျန်ရှိနေသည့်အတွက် ပြစ်ဒဏ်တစ်စုံတစ်ရာ ပေးခြင်းမခံရသော်လည်း ကျန်ရှိနေသေးသော ယင်းအညစ်အကြေး အစအနမှ နောက်နောင်တွင် အခြားအပြစ်များ ပေါက်ပွားလာမည်ကို စိုးရိမ်ရပေသည်။ ဝန်ချတောင်းပန်ပြီးသည့်နောက် ကျန်ရှိခဲ့တတ်သော အညစ်အကြေးသည် အထူးသဖြင့် 'ဆွဒကဟ်' အလှူဒါန ပြုခြင်းအားဖြင့်လည်းကောင်း၊ အခြားကုသိုလ် ကောင်းမှုများ ပြုလုပ်ခြင်းအားဖြင့်လည်းကောင်း၊ စင်ကြယ် သွားနိုင်ပေသည်။ ထို့အတွက်ကြောင့် ဤအာယတ်တော်တွင် ပြစ်မှုကျူးလွန်မိသော မွတ်စ်လင်မ်တို့၏ အလှူပစ္စည်းများကို လက်ခံယူရန် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား အမိန့်ပေးထားတော်မူခြင်း ဖြစ်သည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ကလည်း ... အလှူဒါနသည် အလ္လာဟ်အရှင်မြတ်၏ အမျက်တော်ကို ငြိမ်းအေးစေသည်" ဟုမိန့်ကြားတော်မူခဲ့လေသည်။ ကြည့်-ထာနဗီ၊ အစောင်-၄၊ စ-၁၄၂။

အမှန်အားဖြင့် ဂျီဟာဒ်သည် "ဖရ်ဆွေကိဖာယဟ်" ဖြစ်သည်၊ သို့ရာတွင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က မွတ်စ်လင်မ်အားလုံးတို့အား စစ်ချီထွက်ရန် အမိန့်ထုတ်ပြန်တော်မူ ➤➤

أَلَمْ يَعْلَمُوٓا۟ أَنَّ ٱللَّهَ هُوَ يَقْبَلُ ٱلتَّوْبَةَ عَنْ عِبَادِهِۦ وَيَأْخُذُ ٱلصَّدَقَٰتِ وَأَنَّ ٱللَّهَ هُوَ ٱلتَّوَّابُ ٱلرَّحِيمُ ﴿١٠٤﴾

၁၀၄။ မုချဧကန် အလ္လာဟ်အရှင်မြတ်သည်ပင် မိမိကျွန်များ၏ ဝန်ချ တောင်းပန်ချက်ကို သဘောတူလက်ခံတော်မူသည်ကိုလည်းကောင်း၊ ထိုအရှင်မြတ်သည်ပင် အလှူဒါနဝတ္ထုပစ္စည်းများကို လက်ခံတော်မူသည်ကိုလည်းကောင်း၊ ထိုသူများ မသိကြလေသလော၊ ဧကန်အမှန် ထိုအရှင်မြတ်သည်ပင် (မိမိကျွန်များ၏) ဝန်ချတောင်းပန်ချက်ကို အလွန်တရာ သဘောတူ လက်ခံတော်မူသောအရှင်၊ (၎င်းတို့အပေါ်၌) အလွန်တရာ သနားကြင်နာ ညှာတာတော်မူသောအရှင် ဖြစ်တော်မူပေသည်။ ၁

➤➤ လိုက်သည့်အခါ ဂျီဟာဒ်သည် "ဖရ်သွေအိုင်န်" ဖြစ်သွားပေသည်။ ထို့မျှမက အစ္စလာမ်အစိုးရရှေ့ဆောင်အကြီးအကဲတဦးဦးက စစ်ချီထွက်ရန် မွတ်စ်လင်မ် အားလုံးတို့အား အမိန့်ထုတ်ပြန်လိုက်လျှင်လည်း ဂျီဟာဒ်သည် "ဖရ်သွေအိုင်န်" ဖြစ်သွားပေသည်။ (ကြည့်-ထာနဝီ၊ အစောင် ၄၊ စ- ၁၄၂။)

② ဤအာယတ်တော်တွင် လှူဒါန်းသူတို့အဖို့ ဆုမွန်ဒိုအာတောင်းပေးရန် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား အမိန့်ပေးထားတော်မူသည့်အလျောက် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အလှူဒါနပြုသူတို့အဖို့ ဆုမွန်တောင်းပေးတော်မူလေ့ရှိခဲ့ပေသည်။ ယင်းသို့ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က ဆုမွန်တောင်းပေးတော်မူခြင်းဖြင့် လှူဒါန်းသူတို့၏ စိတ်ဓာတ်သည် တက်ကြွလာပေသည်။ စိတ်၏ငြိမ်းအေးမှုကိုလည်း ရရှိပေသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဆုမွန်အကျိုးသည် အလှူဒါနပြုသူ၌သာမက ၎င်း၏ သား၊ မြေး၊ မြစ်တို့တိုင် သက်ရောက်လေ့ရှိပေသည်။ ယခုလည်း မွတ်စ်လင်မ်တို့၏ "အဲမာမ်" အကြီးအကဲ ဦးစီးနာယက ဥက္ကဋ္ဌတို့သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အမွေစားအဖြစ်ဖြင့် လှူဒါန်းသူတို့အဖို့ ဆုတောင်းပေးခြင်းသည် တရားဝင် ကိစ္စတစ်ရပ်ပင်ဖြစ်သည်၊ သို့ရာတွင် ယင်းသို့ဆုတောင်းကြရာ၌ "ဆွလာတ်" ဟူသောပုဒ်ကို မသုံးကြရပေ။ အဘယ်ကြောင့်ဆိုသော် "ဆွလာတ်" ဟူသောပုဒ်ကို သုံးပိုင်ခွင့်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ သီးသန့်အခွင့်အရေး တစ်ရပ်ဖြစ်သည်။

① 'တောင်ဗဟ်' ဝန်ချတောင်းပန်ခြင်းကို လက်ခံသဘောတူတော်မူခြင်း၊ အလှူဒါနများကို လက်ခံသဘောတူတော်မူခြင်းများသည် အလ္လာဟ်အရှင်မြတ်နှင့်သာလျှင် သက်ဆိုင်ပေသည်။ အဘယ်ကြောင့်ဆိုသော် ဝန်ချတောင်းပန်သူများနှင့် အလှူအတန်းပြုသူများအနက် မည်သူမည်ဝါတို့သည် စေတနာဖြူစင်စွာဖြင့် ဝန်ချတောင်းပန်ကြသည်၊ လှူဒါန်းကြသည်၊ လက်ခံသဘောတူတော်မူရန်အတွက် သတ်မှတ်ထားတော်မူသော စည်းကမ်းချက်များကို မည်သူမည်ဝါတို့က လိုက်နာကျင့်သုံးကြသည်များကို ထိုအရှင်မြတ်သာလျှင် အကြွင်းမဲ့ သိတော်မူသည်။ ထို့အတွက်ကြောင့်လည်း အလ္လာဟ်အရှင် မြတ်သည် ယခင်က အချို့သူများအား ပြစ်ဒဏ်ပေးတော်မူခဲ့၏။ ၎င်းတို့၏ ဇကာတ်ကို လက်ခံတော်မမူဘဲ ပိတ်ပင်တားမြစ်တော်မူခဲ့၏။ထို့အတူ မုနာဖစ်က်များ၏ ➤➤

وَقُلِ اعْمَلُوا فَسَيَرَى اللَّهُ عَمَلَكُمْ وَرَسُولُهُ وَالْمُؤْمِنُونَ وَسَتُرَدُّونَ إِلَىٰ عَالِمِ الْغَيْبِ وَالشَّهَادَةِ فَيُنَبِّئُكُم بِمَا كُنتُمْ تَعْمَلُونَ ﴿١٠٥﴾

၁၀၅။ ထိုမှတပါး အသင်သည် (ဤသို့) ပြောကြားပါလေ၊ "အသင်တို့သည် (အသင်တို့နှစ်သက်ရာများကို) ပြုလုပ်ကြလေကုန်၊ မကြာမြင့်မီ အသင်တို့၏ အပြုအမူကို အလ္လာဟ်အရှင်မြတ်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်သည်လည်းကောင်း၊ "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့သည်လည်းကောင်း၊တွေ့မြင်ကြပေမည်။ [၁] ထိုမှတပါး အသင်တို့သည် ဖုံးအုပ်လျက်ရှိသောအရာတို့ကိုလည်းကောင်း၊ ပေါ်လွင်ထင်ရှားစွာ သိမြင်နိုင်သောအရာတို့ကိုလည်းကောင်း၊ သိတော်မူသောအရှင်မြတ်ထံတော်သို့ မုချ ပြန်ရောက်စေခြင်းကို ခံကြရပေမည်။ တဖန် ထိုအရှင်မြတ်သည် အသင်တို့အား အသင်တို့ ပြုမူလျက်ရှိကြသည်တို့ကို ထုတ်ဖော် မိန့်ကြားတော်မူပေမည်။

---

➤➤ အလ္လူပစ္စည်းများကိုလည်း ငြင်းပယ်တော်မူခဲ့၏။ ယင်းမုနာဖစ်က်များအတွက် ဆုမွန်တောင်းခြင်း၊ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားပေးခြင်းများသည် အကျိုးမရှိ၊ အချည်းနှီးသာဖြစ်ကြောင်း မိန့်ဆိုထားတော်မူရုံသာမက ၎င်းတို့၏ သူသေများအတွက် ဂျနာဇဟ်ဆွလာတ်ဝတ်ပြုပေးခြင်းကိုပင် တားမြစ်တော်မူခဲ့၏။

ဤအာယတ်တော်တွင်ပါရှိသော ပုဂ္ဂိုလ်များကား အထက်ဖော်ပြပါ သူယုတ်မာများကဲ့သို့မဟုတ်၊ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ ဝန်ချတောင်းပန်ချက်ကို လက်ခံတော်မူခဲ့၏၊ ၎င်းတို့၏အလ္လူပစ္စည်းများကို လက်ခံရန်လည်း အမိန့်ပေးတော်မူခဲ့၏၊ ၎င်းတို့အတွက် အခါမရွေး ဆုတောင်းပေးရန် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အားလည်း အမိန့်ပေးတော်မူခဲ့၏။

(၁) ဝန်ချတောင်းပန်ခြင်းဖြင့် ယခင်ကပျက်ကွက်ခဲ့သော ကျူးလွန်မိခဲ့သော အပြစ်များမှ လွတ်ငြိမ်းချမ်းသာခွင့် ရရှိနိုင်၏။ သို့ရာတွင် ယင်းသို့လွတ်ငြိမ်းချမ်းသာခွင့်ရရှိသော ပုဂ္ဂိုလ်များသည် နောက်နောင် မည်သို့မည်ပုံ လုပ်ကြမည်၊ အဘယ်မျှမှန်ကန်ကြမည်၊ အဘယ်မျှတည်ကြည်ကြမည်ကို စောင့်ကြည့်ကြရပေမည်။

ဤစစ်ပွဲတွင်ပျက်ကွက်မိက နောင်ဖြစ်ပွားမည့်စစ်ပွဲများတွင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ခေတ်၌သော်လည်းကောင်း၊ "ခလီဖဟ်" သမ္မတကြီးများ၏ ခေတ်များ၌သော်လည်းကောင်း၊ ထိုပုဂ္ဂိုလ်များသည် မည်သို့ပြုလုပ်ကြမည်ကို တွေ့မြင်ကြရပေမည်။ ထို့နောက်တဖန် အတွင်းအပြင်၊ မျက်မှောက်၊ မျက်ကွယ် အားလုံးတို့ကို အကြွင်းမဲ့သိတော်မူသော အလ္လာဟ်အရှင်မြတ်ထံတော်သို့ ရောက်ကြရမည်၊ မိမိတို့၏ပြုကျင့်ခဲ့ကြသည့် အကုသိုလ်၊ ကုသိုလ်များနှင့်စပ်လျဉ်း၍ ကျိုးပြစ်ခံ၊ စံကြရမည်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့သိတော်မူသော အလ္လာဟ်အရှင်မြတ်ဖြစ်တော်မူပေရာ လူသားအားလုံးတို့အား ၎င်းတို့၏အခြေအနေအမှန်နှင့်အညီ ကျိုးပြစ်စီရင်တော်မူမည်သာဖြစ်သည်။

وَاٰخَرُوْنَ مُرْجَوْنَ لِاَمْرِ اللّٰهِ اِمَّا يُعَذِّبُهُمْ وَاِمَّا يَتُوْبُ عَلَيْهِمْ ۗ وَاللّٰهُ عَلِيْمٌ حَكِيْمٌ ﴿١٠٦﴾

**၁၀၆**။ ၎င်းပြင် အခြား သူတို့သည်လည်း ရှိကြကုန်၏၊ [၁] ထိုသူတို့၏အရေးကိစ္စမှာ အလ္လာဟ်အရှင်မြတ်၏အမိန့်တော်(ကျရောက်သည်)အထိ ရွှေ့ဆိုင်းထားပြီး ဖြစ်ချေသည်။ ထိုအရှင်မြတ်သည် ၎င်းတို့အား ပြစ်ဒဏ်ပေးတော်မူသည်ဖြစ်စေ၊ ၎င်းတို့၏ ဝန်ချတောင်းပန်ချက်ကို သဘောတူ လက်ခံတော်မူသည်ဖြစ်စေ၊ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်း တို့ကို သိတော်မူသောအရှင်၊ ကျိုးကြောင်း ဆင်ခြင်တုံတရားနှင့်ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

---

(၁) မဒီနာမြို့သားများအတွက် အုပ်စုလေးတခုအကြောင်းကို ဤအာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။ အဖြစ်ကား တဗူးက်စစ်မြေပြင်သို့ လိုက်ပါမသွားဘဲ နောက်ပိုင်းတွင် ချန်ရစ်နေခဲ့ကြသောသူများမှာ သုံးမျိုးသုံးစားရှိသည်။

၁။ မုနာဖစ်က်များ၊ ၎င်းတို့သည် သံသယဖြစ်မှု၊ အရေခြုံမှုများကြောင့် သီးသန့်နေခဲ့ကြ၏။

၂။ အချို့မုအ်မင်န်များ၊ ၎င်းတို့သည် သက်သက်ပျင်းရိမှု၊ ရေသာခိုမှု၊ အလွယ်ကြိုက်မှုများကြောင့် ဂျီဟာဒ်စစ်ပွဲသို့ မလိုက်ပါဘဲ ချန်နေခဲ့ကြ၏။

၃။ အထက်ပါ နံပါတ်(၂)အမျိုးအစားတွင်ပါရှိသော မုအ်မင်န်များသည် နှစ်မျိုးနှစ်စားရှိပြန်၏။

(က) ၎င်းတို့အနက် အများစုမှာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) စစ်ပွဲမှ ပြန်လည်ကြွရောက်လာတော်မူသည့် အကြောင်းကို ကြားလျှင်ကြားခြင်း ၎င်းတို့သည် မိမိတို့ကိုယ်ကို ဗလီတိုင်များ၌ တုပ်နှောင်ထားလိုက်ကြလေသည်။ ၎င်းတို့၏အကြောင်း ကုရ်အာန်ကျမ်းမြတ် (၉း၁၀၂)တွင်လည်း ပါရှိခဲ့လေပြီ။

(ခ) ပုဂ္ဂိုလ်သုံးဦးပါဝင်သော အုပ်စုလေးတခု ရှိသေးသည်၊ ၎င်းတို့သည် မိမိတို့ကိုယ်ကို ဗလီတိုင်များ၌ တုပ်နှောင်ထားခဲ့ကြသည်လည်းမရှိ၊ တစုံတရာ အကြောင်းပြခဲ့သည်လည်းမရှိ၊ အဖြစ်အပျက်အမှန်နှင့် မိမိတို့၏ ချွတ်ယွင်းချက်များကိုသာ အမှန်အတိုင်း ခရေစေ့တွင်းကျ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ထံ အစီရင်ခံခဲ့ကြလေသည်။ ဤအာယတ်တော်သည် ယင်းပုဂ္ဂိုလ်သုံးဦးတို့နှင့် ပတ်သက်၍ ကျရောက်လာခြင်း ဖြစ်ပေသည်။

ဤအာယတ်တော်၏ အလိုသဘောကား ယင်းသုံးဦးတို့၏ ပြဿနာကို အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကျရောက်လာသည်အထိ ရက်အနည်းငယ် ရွှေ့ဆိုင်းထားမည်ဖြစ်သည်၊ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ "ဟစ်က္ကမတ်" ဉာဏ်တော်နှင့်အညီ ၎င်းတို့အား ပြစ်ဒဏ်ပေးတော်မူလိုက ပြစ်ဒဏ်ပေးတော်မူမည် ဖြစ်သည်၊ ချမ်းသာခွင့်ပေးတော်မူလိုက ချမ်းသာခွင့်ပေးတော်မူမည် ဖြစ်သည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ၎င်းတို့နှင့်ပတ်သက်၍ အလ္လာဟ်အရှင်မြတ်ထံတော်မှ အမိန့်တော်ကျရောက်လာသည့် တိုင်အောင် ၎င်းတို့သုံးဦးအား သွန်သင်ပဲ့ပြင်ဆုံးမရန်အလို့ငှာ ၎င်းတို့သုံးဦးနှင့် အဆက်ဖြတ်ထားရန် ➤➤

၁၀၇။ ထိုမှတစ်ပါး(၎င်းတို့တွင်) အကြင်သူတို့သည်လည်း ရှိကြကုန်၏။ ထိုသူတို့သည် "မတ်စ်ဂျစ်ဒ်" ဗလီဝတ်ကျောင်းတဆောင်ကို (အစ္စလာမ်သာသနာတော်နှင့်မွတ်စ်လင်မ်တို့အား) အကျိုးယုတ်စေခြင်းငှာလည်းကောင်း၊ (နဗီတမန်တော်မြတ်အား ကဲ့ရဲ့ခြင်းအားဖြင့်) သွေဖည်ငြင်းပယ်ခြင်းငှာလည်းကောင်း၊ မွတ်စ်လင်မ်တို့ အချင်းချင်းတွင် သွေးခွဲခြင်းငှာလည်းကောင်း၊ ယခင်က အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အား တိုက်ခိုက်ခဲ့ကြသောသူများ ကင်းထောက်ရာဌာနတခု ရရှိစေခြင်းငှာလည်းကောင်းတည်ဆောက်ခဲ့ကြကုန်၏။ ၁

وَالَّذِينَ اتَّخَذُوا مَسْجِدًا ضِرَارًا وَكُفْرًا وَتَفْرِيقًا بَيْنَ الْمُؤْمِنِينَ وَإِرْصَادًا لِّمَنْ حَارَبَ اللَّهَ وَرَسُولَهُ مِن قَبْلُ ۚ وَلَيَحْلِفُنَّ إِنْ أَرَدْنَا إِلَّا الْحُسْنَىٰ ۖ وَاللَّهُ يَشْهَدُ إِنَّهُمْ لَكَاذِبُونَ ﴿١٠٧﴾

တစ်ဖန် ထိုသူတို့က "ကျွန်တော်မျိုးတို့သည် အကောင်းကိုသာ ရည်စူးခဲ့ကြပါသည်" ဟု ကျိန်ဆိုကြပေလိမ့်မည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့ ဧကန်မလွဲ မုသာဝါဒီများ ဖြစ်ကြသည်ကို သက်သေခံတော်မူ၏။

---

➤➤ မွတ်စ်လင်မ်တို့အား အမိန့်ပေးတော်မူခဲ့လေသည်။ ရက်ပေါင်း (၅၀)တိုင်တိုင် ဤအတိုင်းပင် မပြီးမပြတ်ဘဲ ရှိနေခဲ့၏။ ထို့နောက်သော် ၎င်းတို့သုံးဦးသည် လွတ်ငြိမ်းချမ်းသာခွင့် ရရှိသွားခဲ့ကြလေသည်။ ဤပုဂ္ဂိုလ်သုံးဦးတို့၏ အကြောင်းကို ကုရ်အာန်ကျမ်းမြတ်(၉း၁၁၈)တွင်လည်း မိန့်ဆိုထားတော်မူသည်။

ထိုပုဂ္ဂိုလ်သုံးဦးတို့၏အမည်များမှာ အောက်ပါအတိုင်းဖြစ်သည်။

၁။ ကအ်ဗ် အစ်ဗ်နု မာလစ်က်။

၂။ ဟိလာလ် အစ်ဗ်နု အုမိုင်ယဟ်။

၃။ မုရာရဟ် အစ်ဗ်နု အလ်ရဗီအ်။

(၁) အထက်တွင် အကြင်မွတ်စ်လင်မ်တို့၏အကြောင်းပါရှိ၏၊ ၎င်းတို့သည် 'ဂျီဟာဒ်' ပြုလုပ်ခြင်းမှ ချန်ရစ်ခဲ့ကြသည့်အတွက် အမြင်၌ ကောင်းမှုတရပ်ကို စွန့်လွှတ်ခဲ့ကြပေသည်။ သို့ရာတွင် ၎င်းတို့၏ ယုံကြည်ချက်မှန်ကန်မှုနှင့် အများဝန်ခံမှုများကြောင့် ၎င်းတို့သည် လွတ်ငြိမ်းချမ်းသာခွင့် ရရှိသွားခဲ့ကြပေသည်။ ယခု ဤအာယတ်တော်များတွင် အကြင်အုပ်စုတခု၏အကြောင်း မိန့်ဆို ထားတော်မူ၏၊ ၎င်းတို့သည် မျက်မြင်အားဖြင့် ကောင်းသောအရာကို ပြုလုပ်ကြ၏၊(ဝါ)ဗလီတည်ဆောက်ကြ၏။ သို့ရာတွင် စိတ်စေတနာမဖြူစင်မှု၊ ယုံကြည်ချက်များယွင်းမှု ➤➤

**(တစ်နည်း)**

ၚင်းပြင် (ထိုသူများတွင်) အကြင်သို့သော သူများလည်းရှိကြ၏၊ ၎င်းတို့သည် (အစ္စလာမ်ကို) ကျိုးယုတ်နစ်နာစေရန်လည်းကောင်း၊ ကုဖ်ရ်၏စကား ပြောဆိုရန်လည်းကောင်း၊ မုအ်မင်န်တို့စပ်ကြားတွင် သွေးခွဲရန်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏တမန်တော်မြတ်အား ယခင်ကပင် ဆန့်ကျင် တိုက်ခိုက်ခဲ့သောသူတို့ တည်းခိုစေရန် အတွက်လည်းကောင်း၊ ဗလီတလုံး တည်ဆောက် ခဲ့ကြသည်။

ၚင်းပြင် ထိုသူများက "ကျွန်ုပ်တို့သည် အကောင်းမှတပါး အခြား မည်သည့်အရာကိုမျှ ရည်ရွယ်ခဲ့ကြသည် မဟုတ်ပါ" ဟု မုချကျိန်ဆိုကြလိမ့် မည်။ သို့ရာတွင် မုချဧကန် ၎င်းတို့သည် မုသာဝါဒီ များဖြစ်ကြသည်ကို အလ္လာဟ်အရှင်မြတ် အသိ သက်သေဖြစ်တော်မူသည်။

---

➤➤ များကြောင့် ၎င်းတို့၏ ဗလီတည်ဆောက်ခြင်းသည်ပင် ၎င်းတို့အဖို့ အကောင်းမဖြစ်၊ အဆိုးသာ ဖြစ်သွားရလေသည်။

**"မတ်စ်ဂျစ်ဒ်သျွရာရ် 'နှင့်' မတ်စ်ဂျစ်ဒ်ကုဗာ"**

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မက္ကာမြို့တော်မှ "ဟစ်ဂျ်ရတ်" ပြုလုပ်၍ မဒီနာမြို့တော်သို့ ရွှေ့ပြောင်းသွားတော်မူခဲ့သည့်အခါ မဒီနာမြို့၏အပြင်ဘက် ဆင်ခြေဖုံးတွင် နေထိုင်လျက်ရှိသော "အမ်ရ်အစ်ဗ်နုအောက်ဖ်" မျိုးနွယ်၏ ရပ်ရွာတွင် ဦးစွာပထမ စခန်းချနေတော်မူခဲ့၏။ ထို့နောက် ရက်အနည်းငယ် ကြာသောအခါ မဒီနာမြို့တွင်းသို့ ကြွသွားတော်မူခဲ့လေသည်။ ပြီးနောက် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မဒီနာမြို့တွင် 'မတ်စ်ဂျစ်ဒ်နဗဝီ' ဗလီကျောင်းတော်ကို တည်ဆောက်တော်မူလေသည်။ အမ်ရ် အစ်ဗ်နုအောက်ဖ်၏ ရပ်ရွာ၌ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ယခင် တည်းခိုနေတော်မူခဲ့စဉ် က အမြဲတစေ ဆွလာတ်ဝတ်ပြုတော်မူလေ့ရှိသော နေရာတွင် ထိုရပ်ရွာရှိ မွတ်စ်လင်မ်များသည် ဗလီတစ်လုံး တည်ဆောက်ခဲ့ကြလေသည်၊ ထိုဗလီသည် "မတ်စ်ဂျစ်ဒ်ကုဗာ" ဟူ၍ ကျော်ကြားခဲ့သည်။ (ယနေ့ထက်တိုင်လည်း တည်ရှိနေသည်။) တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အများအားဖြင့် စနေနေ့များတွင် မတ်စ်ဂျစ်ဒ်ကုဗာသို့ သွားရောက်၍ ဆွလာတ်နှစ်ရကအ်တ် ဝတ်ပြုတော်မူလေ့ရှိသည်။ ➤➤

➤➤ မတ်စ်ဂျစ်ဒ်ကုဗာ၌ ဆွလာတ်ဝတ်ပြုခြင်း၏ အကျိုးများပြားလှကြောင်းကိုလည်း မိန့်ကြားတော်မူလေ့ရှိသည်။

အချို့မုနာဖစ်က်များသည် 'မတ်စ်ဂျစ်ဒ်ကုဗာ' ၏ အနီး၌ပင် ယှဉ်ပြိုင်ဗလီတလုံး တည်ဆောက်ကြလေသည်။ ထိုယှဉ်ပြိုင်ဗလီတည်ဆောက်ခြင်း၏ ရည်ရွယ်ချက်မှာ မိမိတို့အုပ်စုကို သီးသန့်ပြုလုပ်ရန်နှင့် အချို့ရိုးသားသော မွတ်စ်လင်မ်တို့အား မတ်စ်ဂျစ်ဒ်ကုဗာမှ မိမိတို့ဘက်သို့ ဖဲ့ထုတ်ဆွဲယူရန်ပင်ဖြစ်သည်။

အမှန်စင်စစ် ဤသည့် မကောင်းသောအကြံအစည်ကို စတင်ဖြစ်ပေါ်စေခဲ့သူမှာ 'အဗူအာမစ်ရ် ရာဟစ်ဗ် ခတ်ဇ်ရဂျီ' အမည်ရှိ သူယုတ်မာတစ်ယောက်ဖြစ်သည်။ ထိုသူသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ဟစ်ဂျ်ရတ် မပြုလုပ်တော်မူမီအလျင်က နဆွ်ရာနီဖြစ်၍ ရသေ့ဝတ်နှင့်နေခဲ့လေသည်။ မဒီနာမြို့နှင့်ပတ်ဝန်းကျင်မှ လူအများသည် အထူးသဖြင့် ခတ်ဇ်ရဂျ်မျိုးနွယ်ဝင်များသည် ထိုသူ့အား အထူးတလည် ရိုသေမြတ်နိုးခဲ့ကြလေသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) မဒီနာမြို့သို့ ရောက်ရှိလာတော်မူပြီး အစ္စလာမ့်ရောင်ခြည်ထွန်းလင်း တောက်ပလာသည့်အခါ အဗူအာမစ်ရ်ရာဟစ်ဗ် ခတ်ဇ်ရဂျီနှင့် ၎င်းကဲ့သို့သော ရသေ့များ၏ အယောင်ဆောင်မှု၊ လှည့်စားမှု၊ ဖြားယောင်းမှုများသည် ပေါ်လွင်ထင်ရှားသွားလေတော့သည်။ သူရိယနေမင်း၏ ရှေ့မှောက်တွင် ဆီမီးခွက်ကို မည်သူအလိုရှိအံ့နည်း၊ အဗူအာမစ်ရ်သည် ဤသည့်အခြင်းအရာကို တွေ့မြင်ရသောအခါ အထူးပင် မကျေမနပ် ဖြစ်သွားလေသည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အဗူအာမစ်ရ်အား အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ရန် ဖိတ်ခေါ်၍ "ကျွန်ုပ်သည် တမန်တော် အစ်ဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)၏ မူရင်းသာသနာကို ယူဆောင်လာခဲ့ပါသည်" ဟု မိန့်ကြားတော်မူလေသည်။ အဗူအာမစ်ရ်က 'ကျွန်ုပ်သည် တမန်တော် အစ်ဗ်ရာဟီမ်၏ သာသနာ့အပေါ်၌ ယခင်ကပင် ရပ်တည်လျက်ရှိပါသည်၊ သို့ရာတွင် အသင်တို့သည် တမန်တော်အစ်ဗ်ရာဟီမ်၏ သာသနာတွင် ထိုသာသနာနှင့် ဆန့်ကျင်သည့်အရာများကို မိမိတို့ဘက်မှ ထည့်သွင်းထားကြသည်' ဟု ပြန်လည်ပြောဆိုလေသည်။ ထိုအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အဗူအာမစ်ရ်၏ စကားကို လေးနက်ပြင်းထန်စွာ ကန့်ကွက်ချေပတော်မူလေသည်။ နောက်ဆုံးတွင် အဗူအာမစ်ရ်က 'ကျွန်ုပ်တို့အနက် အကြင်သူသည် မုသားပြောဆိုသူဖြစ်အံ့၊ ထိုသူ့အား အလ္လာဟ်အရှင်မြတ်သည် တိုင်းပြည်မှ နှင်ထုတ်တော်မူ၍ အလွန်ဝေးလံသော နေရာ၌ တစ်ကိုယ်တည်း ဆင်းဆင်းရဲရဲ အသေဆိုးနှင့် သေစေတော်မူပါစေသတည်း" ဟု ထုတ်ဖော်တိုင်တည်ရာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က "အာမီးန်" (အလ္လာဟ်အရှင်မြတ်သည် ဤအတိုင်းပင် ပြုလုပ်တော်မူပါစေသား) ဟု မိန့်ဆိုတော်မူလိုက်လေသည်။

'ဗဒ်ရ်' စစ်ပွဲပြီးဆုံးသည့်နောက်ပိုင်းတွင် အစ္စလာမ်သာသနာ၏ အခြေအနေများသည် တောင့်တင်းခိုင်မြဲလာခဲ့၏။ မွတ်စ်လင်မ်တို့သည်လည်း အထူးပင် တိုးတက်ကြီးပွားလာခဲ့ကြ၏။ အစ္စလာမ်ရန်သူများသည် အထူးပင် စိုးရိမ်ကြောင့်ကြလာခဲ့ကြ၏၊ ထိုအခါ အဗူအာမစ်ရ်သည် မဒီနာမြို့မှ မက္ကာမြို့တော်သို့ ရောက်ရှိလာခဲ့ပြီးနောက်၊ မက္ကာမြို့သား ကာဖိရ်များအား တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် ပြိုင်ဆိုင်တိုက်ခိုက်ရန် လှုံ့ဆော်ကာ မွတ်စ်လင်မ်တို့နှင့် ပြိုင်ဆိုင်တိုက်ခိုက်ရန် သွေးဆောင် စည်းရုံးခဲ့လေသည်။ 'အုဟွဒ်'စစ်ပွဲတွင် ကုရိုက်ရှ်စစ်သည်များနှင့်အတူ မိမိကိုယ်တိုင် ပါဝင်ဆင်နွှဲခဲ့လေသည်။ စစ်ပွဲစတင်မဖြစ်ပွားမီအလျင် အဗူအာမစ်ရ်သည် ရှေ့သို့ထွက်၍ အမိုက်ခေတ်တွင် မိမိအား ရဟန်းတဆူဟု ယုံကြည်မြတ်နိုးခဲ့ကြသော အန်ဆွာရ်တို့အား မိမိဘက်သို့ ယိမ်းယိုင်လိုက်ပါလာကြရန် ဖိတ်ကြားပြောဆိုလေရာ အန်ဆွာရ်များက 'အို-သူယုတ်၊ အို-အလ္လာဟ်အရှင်မြတ်၏ ရန်သူ၊ အသင်၏ မျက်စိများသည် အဘယ်သော အခါမျှ ကြည်အေးခြင်း ➤➤

➤➤ မဖြစ်ပါစေနှင့်၊ ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) အား ဖဲကြဉ်၍ အသင့်အား အသို့လျှင် ကူညီထောက်ပံ့နိုင်ကြအံ့နည်း” ဟု ဖြေကြားလေသည်။ ယင်းသို့ အန်ဆွာရ်များ၏ အဖြေကိုကြားလိုက်ရသောအခါ အဗူအာမစ်ရ်သည် မျှော်လင့်ချက်ကုန်၍ ဒေါသထွက်လာကာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ‘အို-မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) နောက်နောင် မည်သည့်လူမျိုးမဆို အသင်နှင့် ပြိုင်ဆိုင်တိုက်ခိုက်လျှင် ကျွန်ုပ်သည် ထိုလူမျိုးအား အထူးတလည် ကူညီ အားပေးမည်” ဟု ပြောဆိုလေသည်။ ယင်းသို့ပြောဆိုခဲ့သည့်အတိုင်းလည်း အဗူအာမစ်ရ်သည် ‘ဟုနိုင်န်’ စစ်ပွဲဖြစ်ပွားသည့်အထိ ကာဖိရ်စစ်သည်များနှင့် ပူးပေါင်း၍ စစ်ပွဲတိုင်းတွင် မွတ်စ်လင်မ်တို့အား တိုက်ခိုက်ခဲ့လေသည်။ ‘အုဟွဒ်စစ်ပွဲတွင် အဗူအာမစ်ရ်၏ ယုတ်မာမှုကြောင့်ပင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၌ ဒဏ်ရာဖြစ်ခဲ့ရ၏။ အဗူအာမစ်ရ်သည် မွတ်စ်လင်မ်စစ်သည်များနှင့် ကာဖိရ် စစ်သည်များ၏အကြားတွင် လျှို့ဝှက်စွာ တွင်းများတူးထားစေခဲ့၏။ ထိုတွင်းများရှိရာဒေသ၌ပင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ မျက်နှာတော်၌ ဒဏ်ရာရရှိခဲ့၏၊ သွားတော်လည်း ရှဟီးဒ်ဖြစ်ခဲ့ရ၏။

‘ဟုနိုင်န်’ စစ်ပွဲပြီးဆုံးသည့်နောက်ပိုင်းတွင် အစ္စလာမ်သာသနာကို အရဗ်၏ မည်သည့်အင်အားစုကမျှ မဖြိုဖျက်နိုင်တော့သည်ကို အဗူအာမစ်ရ်သိရှိသွားသောအခါ ၎င်းသည် ဆီရိယားနိုင်ငံသို့ ထွက်ပြေးတိမ်းရှောင် သွားခဲ့လေသည်။ ထို့နောက် အဗူအာမစ်ရ်သည် ဆီရိယားနိုင်ငံမှ မဒီနာမြို့ရှိ မုနာဖစ်ကီများထံသို့ စာရေးသွန်ကြား ပြန်သည်မှာ . . .

ကျွန်ုပ်သည် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် ပြိုင်ဆိုင်တိုက်ခိုက်ရန်အတွက် ရောမဘုရင်နှင့် တွေ့ဆုံ၍ အလွန်ကြီးမားသော စစ်တပ်ကြီးတတပ်ကို ခေါ်ဆောင် လာခဲ့မည်၊ ထိုစစ်တပ်သည် တမုဟုတ်ချင်းအတွင်း၌ မွတ်စ်လင်မ်တို့အား လုံးဝချေမှုန်းပစ်လိမ့်မည်။

အသင်တို့သည် ယခုလောလောဆယ် မတ်စ်ဂျစ်ဒ် ဗလီအမည်ဖြင့် အဆောက်အအုံတခုကို တည်ဆောက်ထားကြကုန်။ ထိုဗလီ၌ ဆွလာတ်ဝတ်ပြုမှုကို အကြောင်းပြု၍ စုရုံးကြပြီး အစ္စလာမ်နှင့် ဆန့်ကျင်၍ အမျိုးမျိုး ဆွေးနွေးတိုင်ပင် နှီးနှောကြမည်။ ကျွန်ုပ်၏ စာကိုလည်း စာပို့လုလင်သည် ထိုအမည်ခံဗလီ၌ပင် အသင်တို့ထံ လာရောက်ပေးပို့လိမ့်မည်။ ကျွန်ုပ်ကိုယ်တိုင်လည်း မဒီနာမြို့သို့ ရောက်သည့်အခါ ထိုဗလီ၌ပင် တည်းခိုမည်။

ဤသည်တို့ကား အဗူအာမစ်ရ်၏ ယုတ်မာလှသော အကြံအစည်များပင်ဖြစ်သည်၊ ဤသည့် ယုတ်မာလှသော အကြံအစည်များကို အကောင်အထည်ဖော်နိုင်ရန် အတွက်ကြောင့်သာ အဆိုပါ အမည်ခံဗလီကို တည်ဆောက်ခြင်းပင်ဖြစ်သည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ရှေ့မှောက်တွင် ထိုမုနာဖစ်ကီများက မိမိတို့ ဗလီတည်ဆောက်ခြင်းနှင့်စပ်လျဉ်း၍ “အို-အလ္လာဟ်အရှင်မြတ်၏နဗီတမန်တော်) အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ပြောကြားပါမည်။ ကျွန်တော်တို့၏စိတ်စေတနာသည် မကောင်းမဟုတ်ပါ၊ မိုးရာသီ၊ ဆောင်းရာသီများ တွင် အထူးသဖြင့် ရောဂါသည်များ၊ မသန်မစွမ်းသူများနှင့် အခြား အရေးကြီး ခွင့်ငယ်ရှိသူများသည် “မတ်စ်ဂျစ်ဒ်ကုဗာ” အထိ သွားရန်မလွယ်ကူပါ၊ ထို့အတွက်ကြောင့် ဤဗလီကို တည်ဆောက်ရခြင်းဖြစ်ပါသည်၊ ဤသို့တည်ဆောက်ခြင်းဖြင့် ဆွလာတ်ဝတ်ပြုသူများအဖို့ လွယ်ကူမှုရရှိမည်ဖြစ်ပါသည်၊ ‘မတ်စ်ဂျစ်ဒ်ကုဗာ’ တွင်လည်း နေရာကျဉ်းတည်းမှုပြဿနာလည်း ပြေလည်သွားမည်ဖြစ်ပါသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ကိုယ်တော်တိုင် တကြိမ်တခါ ထိုဗလီသို့ ကြွရောက်၍ ဆွလာတ်ဝတ်ပြုပါလျှင် ➤➤

لَا تَقُمْ فِيهِ أَبَدًا ۚ لَّمَسْجِدٌ
أُسِّسَ عَلَى التَّقْوَىٰ مِنْ أَوَّلِ
يَوْمٍ أَحَقُّ أَن تَقُومَ فِيهِ ۚ فِيهِ
رِجَالٌ يُحِبُّونَ أَن
يَتَطَهَّرُوا ۚ وَاللَّهُ يُحِبُّ
الْمُطَّهِّرِينَ ﴿١٠٨﴾

**၁၀၈**။ (အို-နဗီတမန်တော်) အသင်သည် ထိုဗလီဝတ်ကျောင်းတွင် မည်သည့်အခါ၌မျှ ('ဆွလာတ်' ဝတ်ပြုရန်) မတ်တတ်မရပ်ပါလေနှင့်။ မုချဧကန်အကြင် "မတ်စ်ဂျစ်ဒ်" ဗလီဝတ်ကျောင်းတော်သည် ပထမနေ့မှစ၍ (အလ္လာဟ်အရှင်မြတ်အား) ကြောက်ရွံ့ရိုသေခန့်ညားခြင်းအပေါ်၌(မူတည်၍) အုတ်မြစ်ချခဲ့ပြီး ဖြစ်၏။ အသင်သည် ထိုဗလီဝတ်ကျောင်းတော်၌ သာလျှင် ပိုမို၍ ရပ်ထိုက်၏။ ထိုဗလီဝတ်ကျောင်းတော်တွင် အလွန်သန့်ရှင်းစင်ကြယ်ကြရန် နှစ်သက်သောသူတို့သည် ရှိကြကုန်၏။ [၁]

➤➤ ကျွန်တော်များအဖို့ မုချမင်္ဂလာရှိပါမည်၊ ကောင်းခြင်း နိမိတ်လက္ခဏာလည်း ဖြစ်ပါမည်" ဟု မေတ္တာရပ်ခံကြလေသည်။ ဤသို့မေတ္တာရပ်ခံခြင်းမှာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အပြုအမူကို တွေ့မြင်၍ အချို့ရိုးသားသော မွတ်စ်လင်မ်များသည် ရိုးသားစွာ တွေးခေါ်မြော်မြင်လေ့ရှိကြသည့်အလျောက် ၎င်းတို့၏ညွှတ်ကွင်းတွင် ကျဆင်းစေရန်ပင်ဖြစ်သည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ထိုအချိန်တွင် 'တဗူးက်' စစ်ပွဲသို့ ကြွသွားရန် အသင့်ရှိနေတော်မူ၏။ ထိုအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က "အလ္လာဟ်အရှင်မြတ် အလိုတော်ရှိလျှင် အပြန်တွင် ဤသို့ဖြစ်နိုင်ကောင်း ဖြစ်နိုင်ပေမည်" ဟု ဖြေကြားတော်မူလေသည်။ 'တဗူးက်' စစ်ပွဲမှ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ပြန်လည်၍ မဒီနာမြို့အနီးသို့ ရောက်ရှိလာတော်မူသည့်အခါ ကောင်းကင်တမန် ဂျစ်ဗ်ရာအီလ်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော်(၉း၁၀၇-၁၁၀)ကို ယူဆောင်၍ လာခဲ့လေသည်။ ဤ အာယတ်တော်များတွင် မုနာဖစ်က်တို့၏ ယုတ်မာသော အကြံအစည်များကို ထုတ်ဖော်မိန့်ဆိုထားတော်မူသဖြင့် မုနာဖစ်က်တို့ ပရိယာယ်ဖြင့် တည်ဆောက်လိုက်သော ဗလီ၏ဖြစ်ရပ်မှန်သည် ပေါ်လွင်ထင်ရှားသွားပေသည်။ ထိုအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် သာဝကကြီး မာလစ်က် အစ်ဗ်နု ဒွတ်ခ်ရှုန်မ်' နှင့် မအ်န်အစ်ဗ်နုအဒီ' တို့အား မုနာဖစ်က်တို့ တည်ဆောက်ထားသော အမည်ခံ ဗလီကိုဖြိုဖျက်ပစ်ရန် အမိန့်ပေးတော်မူလေသည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အမိန့်တော်အရ အဆိုပါသာဝကကြီးနှစ်ပါးသည် ထိုအမည်ခံဗလီကို ချက်ချင်းပင် မီးတင်ရှို့လိုက်ကြလေသည်။ ဤသို့အားဖြင့် မုနာဖစ်က်များနှင့် 'အဗူအာမစ်ရ်' ၏ မျှော်မှန်းချက်များသည် 'ခဲလေသမျှ သဲရေကျ' ဖြစ်သွားလေတော့သည်။ 'အဗူအာမစ်ရ်' သည်လည်း မိမိ၏ ဆုပန်ကြားချက်နှင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ထိုဆုအပေါ် 'အာမီးန်' ဟု မြွက်ဆိုတော်မူခဲ့သည်နှင့်အညီ ဆီရိယားနိုင်ငံ 'ကင်စရိန်' ၌ တဦးတည်းဖြစ်ကာ အသေဆိုးဖြင့် သေသွားခဲ့လေသည်။

(၁) အကြင်မတ်စ်ဂျစ်ဒ် ဗလီဝတ်ကျောင်းကို မလိုမုန်းတီးမှု၊ ကုဖ်ရ်၊ နိဖာက်၊ အစ္စလာမ်ကို ရန်ငြိုးထားမှု၊ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား သွေးဖည်ဆန့်ကျင်မှုများဖြင့် ➤➤

စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အလွန်သန့်ရှင်း စင်ကြယ်ကြကုန်သော သူတို့အား နှစ်မြို့တော်မူချေသတည်း။

أَفَمَنْ أَسَّسَ بُنْيَانَهُ عَلَىٰ تَقْوَىٰ مِنَ اللَّهِ وَرِضْوَانٍ

၁၀၉။ သို့ဖြစ်ပေရာ အကြင်သူသည် မိမိအဆောက်အအုံကို (အလ္လာဟ်အရှင်မြတ်အား) ကြောက်ရွံ့ခန့်ညားခြင်းအပေါ်၌လည်းကောင်း၊ (ထိုအရှင်မြတ်၏) ကျေနပ်မှုအပေါ်၌လည်းကောင်း အုတ်မြစ်ချခဲ့၏၊

---

➤➤ အကြောင်းပြု၍ တည်ဆောက်ထားအံ့၊ ထိုသို့သော မတ်စ်ဂျစ်ဒ်၌ (အို–နဗီ) အသင်သည် ဘယ်သောအခါ၌မျှ မတ်တတ်မရပ်ပါလေနှင့်၊ အမှန်မှာ ဆွလာတ်ဝတ်ပြုရန် လျော်ကန်သင့်မြတ်သည်မှာ အကြင် မတ်စ်ဂျစ်ဒ်ဗလီ၌သာလျှင်ဖြစ်၏။ ထိုမတ်စ်ဂျစ်ဒ်ဗလီသည် ပထမနေ့မှစ၍ပင် 'တာက္ကဝါ' အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားမှု၊ သူတော်စင်တရားပွားများမှုအပေါ်တွင် အုတ်မြစ်ချခဲ့၏။ (ယင်းမတ်စ်ဂျစ်ဒ်သည် 'မတ်စဂျစ်ဒ်နဗဝီ' ဖြစ်စေ၊ မတ်စ်ဂျစ်ဒ်ကုဗာ' ဖြစ်စေ) ထိုမတ်စ်ဂျစ်ဒ်တွင် ဆွလာတ်ဝတ်ပြုကြသော မွတ်စ်လင်မ်များသည်လည်း ဒုစရိုက်မှုများ၊ နှောင့်ယှက်ဖျက်ဆီးမှုများနှင့် အညစ်အကြေးအားလုံးတို့မှ ရုပ်အားဖြင့်လည်းကောင်း၊ နာမ်အားဖြင့်လည်းကောင်း မိမိတို့ကိုယ်ကို သန့်ရှင်းအောင် အထူးကြိုးပမ်းကြ၏၊ ထို့အတွက်ကြောင့်လည်း အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား နှစ်သက်တော်မူပေသည်။

ဟဒီးဆ်ကျမ်းကြီးများတွင် လာရှိသည်မှာ ကုဗာရှိ မွတ်စ်လင်မ်တို့အား တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က "အလ္လာဟ်အရှင်မြတ်သည် သင်တို့၏သန့်ရှင်းမှုကို အထူးတလည် ချီးမွမ်းထားတော်မူသည်၊ အသင်တို့သည် အဘယ်သို့သော သန့်ရှင်းမှုကို ပြုလုပ်ကြသနည်း" ဟု မေးမြန်းတော်မူရာ ကုဗာရှိ မွတ်စ်လင်မ်များက 'ကျွန်တော်မျိုးတို့သည် ကျင်ကြီးကျင်ငယ် စွန့်ပြီးကြသောအခါ ပထမမြေခဲများဖြင့် သန့်ရှင်းအောင်ပြုလုပ် ကြပါသည်၊ ထို့နောက်တစ်ဖန် ရေဖြင့် ဆေးကြောသုတ်သင်ကြပါသည်" ဟု လျှောက်ထားကြလေသည်။ ဆိုလိုသည်ကား ကုဗာရှိမွတ်စ်လင်မ်များသည် သူငါအများ ပြုလုပ်လေ့ရှိကြသော သန့်ရှင်းမှုများထက်ပင်ပို၍ အထက်တွင် ဖော်ပြထားသည့်အတိုင်း သန့်ရှင်းမှုများကို အထူးတလည် ပြုလုပ်လေ့ရှိခဲ့ကြပေသည်။ ဤသည့် အချက်ကို ထောက်ရှုခြင်းအားဖြင့် ဤအာယတ်တော်တွင် ပါရှိသော (လမတ်စ်ဂျိဒွန် အွတ်စ်စိစ အလတ်တာက္ကဝါ) "တာက္ကဝါအပေါ်၌ အုတ်မြစ်ချထားခဲ့သော မတ်စ်ဂျစ်ဒ်" ဟူသည် 'မတ်စ်ဂျစ်ဒ်ကုဗာကို' ရည်ညွှန်းထားတော် မူကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။

သို့ရာတွင် အချို့အာလင်မ် ပညာရှင်များက "ဤအာယတ်တော်တွင်လာရှိသည့် တာက္ကဝါပေါ်၌ အုတ်မြစ်ချထားခဲ့သော မတ်စ်ဂျစ်ဒ်သည် 'မတ်စ်ဂျစ်ဒ်နဗဝီ' တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ မတ်စ်ဂျစ်ဒ်ကို ရည်ညွှန်းသည်" ဟု ဆိုလိုခဲ့ကြလေသည်။ ဤသည့်အကြောင်းနှင့်စပ်လျဉ်း၍ ပညာရှင်များသည် အတော်ပင် အခြေအတင်စကား ပြောဆိုခဲ့ကြသည်။ ဤသည့် အကြောင်းနှင့်စပ်လျဉ်း၍ လာရှိသော 'ရိဝါယတ်' ကျမ်းချက်များကို ကျွန်ုပ်သည် ဆွဟီးဟ်မွတ်စ်လင်မ်ကျမ်း၏အဖွင့် 'ဖတဟွလ်မွတ်စ်လင်မ်' တွင် ညှိ၍ ရေးသားဖော်ပြထားပါသည်။

خَيْرٌ أَم مَّنْ أَسَّسَ بُنْيَانَهُ عَلَىٰ شَفَا جُرُفٍ هَارٍ فَانْهَارَ بِهِ فِي نَارِ جَهَنَّمَ ۗ وَاللَّهُ لَا يَهْدِي الْقَوْمَ الظَّالِمِينَ ﴿١٠٩﴾

ထိုသူသည် ပို၍ကောင်းလေသလော။ သို့တည်းမဟုတ် အကြင်သူသည် ပို၍ကောင်းလေသလော။ ထိုသူသည် မိမိအဆောက်အအုံကို ပြိုကျအံ့ဆဲဆဲဖြစ်သော ချောက်ကမ်းပါးပေါ်၌ အုတ်မြစ်ချခဲ့လေသည်။ သို့ဖြစ်ပေရာ ထိုအဆောက်အအုံသည် ထိုသူနှင့်တကွ 'ဂျဟန္နမ်' ငရဲဘုံ၏ မီးထဲသို့ ပြိုကျသွားခဲ့လေသည်။ [၁] စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် မတရားကျင့်မှု ပြုလုပ်သောသူတို့အား တရားလမ်းမှန်သို့ ပို့တော်မူသည်မဟုတ်ပေ။

لَا يَزَالُ بُنْيَانُهُمُ الَّذِي بَنَوْا رِيبَةً فِي قُلُوبِهِمْ إِلَّا أَن تَقَطَّعَ قُلُوبُهُمْ ۗ وَاللَّهُ عَلِيمٌ حَكِيمٌ ﴿١١٠﴾

**၁၁၀။** ၎င်းတို့တည်ဆောက်ခဲ့ကြသော အဆောက်အအုံမှာ၎င်းတို့၏ *စိတ်နှလုံးများ အစိတ်စိတ်အပိုင်းပိုင်း ဖြစ်မသွားသမျှကာလပတ်လုံး* [၂] ၎င်းတို့၏ စိတ်နှလုံးများတွင် အမြဲတစေ *ထင့်လျက်ပင်* [၃] ရှိချေမည်။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကိုသိတော်မူသောအရှင်၊ နက်နဲသိမ်မွေ့သော ကျိုးကြောင်းဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

---

(၁) အကြင်သူတစ်ဦးသည် မိမိ၏အဆောက်အအုံကို အလ္လာဟ်အရှင်မြတ်အား ရိုသေခန့်ညားမှု၊ ယုံကြည်မြတ်နိုးမှု၊ စိတ်စေတနာဖြူစင်မှု၊ ထိုအရှင်မြတ်၏ နှစ်သက်တော်မူခြင်းကို လိုလားမှုများအပေါ်၌ တည်ဆောက်ထား၏၊ ထိုသူ၏ အဆောက်အအုံသည် အလွန်တရာမှ ခိုင်မြဲပေမည်၊ အမြဲတစေတည်ရှိပေမည်။ သို့ရာတွင် အကြင်သူတဦးသည် မိမိ၏အဆောက်အအုံကို ဒွိဟသံသယ မကင်းမှု၊ အယောင်ဆောင်မှု၊ ဖျားယောင်းမှုများအပေါ်၌ တည်ဆောက်ထား၏၊ ထိုသူ၏ အဆောက်အအုံသည် နုံနဲ့ပေမည်၊ ချူချာပေမည်၊ မကြာမီအတွင်း ပျက်စီးသွားပေမည်။ ဤသို့သော အဆောက်အအုံသည် ရေစား၍ ပြိုအံ့ဆဲဆဲဖြစ်နေသော ချောက်ကမ်းပါးပေါ်၌ တည်ဆောက်ထားသော အဆောက်အအုံနှင့်တူပေသည်။ ထိုအဆောက်အအုံသည် အနည်းငယ်မျှသော ကမ်းပြို သို့မဟုတ် ရေလှိုင်းရိုက်ပုတ်ရုံဖြင့် ပြိုလဲပျက်စီးသွားပေမည်၊ ထိုအဆောက်အအုံသာလျှင် ပြိုလဲပျက်စီးသွားမည်မဟုတ်၊ ထိုအဆောက်အအုံ၌ရှိသော ပစ္စည်းများနှင့် ထိုအဆောက်အအုံ၌ နေထိုင်သူအားလုံးပါ တပါတည်း ပျက်စီးသွားကြပေမည်။ ထို့အတူ မုနာဖစ်က်တို့၏ အယောင်ဆောင်မှု၊ ဖြားယောင်းမှု၊ ဒွိဟသံသယမကင်းမှုများနှင့်ပြီးသော၊ ချူချာနုံ့နဲ့လှသော အဆောက်အအုံသည်လည်း နောက်ဆုံးတွင် မုနာဖစ်က်များ နှင့်တကွ ဂျဟန္နမ် ငရဲမီးထဲသို့ ပြိုကျသွားမည်သာဖြစ်သည်။



إِنَّ اللَّهَ اشْتَرَىٰ مِنَ الْمُؤْمِنِينَ أَنفُسَهُمْ وَأَمْوَالَهُم بِأَنَّ لَهُمُ

၁၁၁။ ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့ထံမှ ထိုသူတို့၏ အသက်ဇီဝိန်များကိုလည်းကောင်း၊ ထိုသူတို့၏ ဥစ္စာပစ္စည်းများကိုလည်းကောင်း ထိုသူတို့အဖို့ ဂျန္နတ် အမတသုခဘုံ(သည် အစားပေးရန်) ရှိသည်ဟူ၍ ဝယ်ယူတော်မူခဲ့လေသည်။ ၁

---

➤➤ အကျဉ်းအားဖြင့်ဖွင့်ဆိုရသော် ဤအာယတ်တော်တွင် အဆောက်အအုံနှစ်ခုကို ပုံပြမိန့်ဆိုထားတော်မူသည်။ အဆောက်အအုံတစ်ခုသည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားမှုနှင့် ထိုအရှင်မြတ်၏ နှစ်သက်တော်မူခြင်းကို လိုလားမှုအပေါ်၌ တည်ဆောက်ထား၏၊ အခြားအဆောက်အအုံတခုသည် သွေဖည်မှု၊ ငြင်းဆန်မှုများအပေါ်၌ တည်ဆောက်ထား၏။ ဖော်ပြပါ အဆောက်အအုံနှစ်ခုအနက် ပဌမအဆောက်အအုံသည် ကောင်းမွန်လှ၏၊ အမြဲတစေထားရှိအပ်၏၊ ဒုတိယအဆောက်အအုံသည် ယုတ်ညံ့လှ၏၊ ဖြိုလှဲပစ်ရန် သင့်၏။

၂ **(အစ်လ္လာ အန်တကတ်တွအ ကုလူဗုဟွန်မ်)** "သို့ရာတွင် ၎င်းတို့၏ စိတ်နှလုံးများ အပိုင်းပိုင်း ဖြစ်သွားခဲ့သည်ရှိသော်" ဟူသော ဝါကျ၏အနက်သဘောမှာ ၎င်းတို့ သေကျေပျက်စီး သွားကြပြီးနောက်ပိုင်းတွင် ၎င်းတို့၌ပူဆွေးမှုမရှိ၊ ချမ်းသာမှုရရှိမည်" ဟူ၍ မဟုတ်၊ ၎င်းတို့သည် အမြဲတစေ ဝမ်းနည်းကြေကွဲလျက်ရှိကြမည်ကို တင်စား မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

၃ 'ရီဗဟ်' ဟူသောပုဒ်၏အဓိပ္ပာယ်မှာ ဒွိဟသံသယဟူ၍ဖြစ်သည်။ အလိုသဘောမှာ 'နိဖာက်' အယောင်ဆောင်မှု ဖြစ်သည်။ ဆိုလိုသည်ကား ဤယုတ်မာဆိုးသွမ်းသော အပြုအမူ၏အကျိုးမှာ ယင်းမုနာဖစ်က်များအပေါ် သေခြင်းတရား မဆိုက်ရောက်သမျှ ကာလပတ်လုံး ၎င်းတို့၏ စိတ်နှလုံးများတွင် 'နိဖာက်' အယောင်ဆောင်မှု သည် အမြဲတစေ စွဲကပ်လျက်ပင်ရှိချေမည်။ ဤသည့်သဘောကိုပင် ကုရ်အာန်ကျမ်းမြတ် (၉း၇၇) တွင်လည်း ( فَأَعْقَبَهُمْ نِفَاقًا فِي قُلُوبِهِمْ إِلَىٰ يَوْمِ يَلْقَوْنَهُ بِمَا أَخْلَفُوا اللَّهَ ) ဟူ၍ ဖွင့်ဟ မိန့်ဆိုထားတော်မူသည်။

အချို့ အာလင်မ်ပညာရှင်များက "ရီဗဟ်" ဟူသောပုဒ်၏ အဓိပ္ပာယ်ကို စိတ်ခုခြင်း၊ စိန်နာခြင်း၊ မကျေမနပ် ဖြစ်ခြင်းဟူ၍ ဘာသာပြန်ဆိုကြသည်။ ဆိုလိုသည်ကား ယုတ်မာသော ရည်ရွယ်ချက်များဖြင့် မုနာဖစ်က်များ တည်ဆောက်ခဲ့ကြသော အဆောက်အအုံနှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ကြိုတင် အသိပေးတော်မူလိုက်သည့်အတွက် ယင်းမုနာဖစ်က်တို့၏ ယုတ်မာသော အကြံအစည် အားလုံးတို့သည် ပျက်စီးသွားခဲ့လေသည်။ ဤသို့အကြံအစည် မအောင်မြင်ဘဲ ခဲလေသမျှ သဲရေကျ ဖြစ်ကြရသည့်အတွက် မုနာဖစ်က်များသည် အမြဲတစေစိတ်ခုလျက်၊ စိတ်နာလျက်၊ ဆွေးလျက်၊ မကျေမနပ်ဖြစ်လျက်၊ ကျိတ်မနိုင် ခဲမရဖြစ်လျက်ပင် ရှိနေကြပေမည်" ဟူ၏။

ဖော်ပြပါအယူအဆ နှစ်ရပ်အနက် ပဌမအယူအဆသည် ပိုမိုသင့်မြတ်သည်။ အစ်ဗ်နုကဆီရ်ကျမ်း တွင်လည်း ဤအတိုင်းဖွင့်ဆိုရေးသားထားပေသည်။

၁ <u>**ထုတ်ပြန်ပို့ချတော်မူသည့်အကြောင်း။**</u>

မုဟာမ္မဒ် အစ်ဗ်နုကအ်ဗ် အလ်ကုရ်တွည်နှင့် အခြားပညာရှင်များက ထုတ်ဖော်ပြောကြားခဲ့သည်မှာ သာဝကကြီး အဗ်ဒုလ္လာဟ်အစ်ဗ်နုရဝါဟဟ်သခင်က 'အကဗဟ်'ညဉ့်တွင် တမန်တော်မြတ်(ဆွလ္လလ္လာဟု ➤➤

ထိုသူတို့သည် အလ္လာဟ် အရှင်မြတ်၏ လမ်းတော်၌ စက်မက်ပြိုင်ဆိုင်တိုက်ခိုက်ကြကုန်၏။ သို့ဖြစ်ပေရာ (ရံဖန်ရံခါ) ထိုသူတို့သည် (ရန်သူတို့အား) သတ်ဖြတ်ကြ၍ (ရံဖန်ရံခါ) ထိုသူတို့သည် (ရန်သူတို့၏) သတ်ဖြတ်မှုကို ခံကြရကုန်၏။ ထိုအရှင်မြတ်သည် မိမိ၏အပေါ်၌ တာဝန်ရှိကြောင်း၊ 'တောင်ဝ်ရာတ်' ကျမ်းမြတ်တွင်လည်းကောင်း၊ 'အင်န်ဂျီလ်' ကျမ်းမြတ်တွင်လည်းကောင်း၊ ကုရ်အာန်ကျမ်းတော်မြတ်တွင်လည်းကောင်း၊ မှန်ကန်စွာ ကတိပြုထားတော်မူခဲ့လေသည်။

စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်ထက်ပို၍ မိမိ၏ကတိကို ပြည့်စုံပြီးစီးအောင် ဆောင်ရွက်သူမည်သူရှိသနည်း။ သို့ဖြစ်ပေရာ အသင်တို့သည် မိမိတို့၏ ရောင်းဝယ်မှုနှင့်စပ်လျဉ်း၍ ဝမ်းမြောက်ပျော်ရွှင် ကြလေကုန်။ အမှန်သော်ကား ဤသည် သာလျှင် အလွန် ကြီးကျယ် မြင့်မြတ်လှစွာသော အောင်မြင်မှုပင်တည်း။

الْجَنَّةَ ۚ يُقَاتِلُونَ فِي
سَبِيلِ اللَّهِ فَيَقْتُلُونَ
وَيُقْتَلُونَ ۖ وَعْدًا عَلَيْهِ
حَقًّا فِي التَّوْرَاةِ
وَالْإِنجِيلِ وَالْقُرْآنِ ۚ
وَمَنْ أَوْفَىٰ بِعَهْدِهِ مِنَ
اللَّهِ ۚ فَاسْتَبْشِرُوا بِبَيْعِكُمُ
الَّذِي بَايَعْتُم بِهِ ۚ وَذَٰلِكَ
هُوَ الْفَوْزُ الْعَظِيمُ ﴿١١١﴾

---

➤➤ အလိုင်ဟိဝစလ္လမ်) အား "အသင်သည် မိမိ၏ အရှင်မြတ်အတွက် လည်းကောင်း၊ မိမိအတွက် လည်းကောင်း၊ အလိုရှိသည့်အတိုင်း စည်းကမ်းသတ်မှတ်တော်မူပါ" ဟုလျှောက်ထားရာ၊ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) က "အသင်တို့သည် အလ္လာဟ်အရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ကြရမည်၊ ထိုအရှင်မြတ်နှင့်တွဲဖက်၍ မည်သည့်အရာကိုမျှ မကိုးကွယ်ကြနှင့်၊ ဤသည် ကျွန်ုပ်၏ အရှင်နှင့်ပတ်သက်သည့် စည်းကမ်းချက်ဖြစ်သည်။ ထို့ပြင် အသင်တို့သည် မိမိတို့၏ အသက်စည်းစိမ်များကို ကာကွယ်ထိန်းသိမ်းကြသကဲ့သို့ ကျွန်ုပ်အားလည်း ကာကွယ်ထိန်းသိမ်းကြရမည်၊ ဤသည် ကျွန်ုပ်နှင့်ပတ်သက်သော စည်းကမ်းချက်ပင်ဖြစ်သည်" ဟု မိန့်ကြားတော်မူလေသည်။ ထိုအခါ သာဝကကြီးများက "ယင်းသို့ ကျွန်ုပ်တို့ လိုက်နာဆောင်ရွက်ကြသည်ရှိသော် ကျွန်ုပ်တို့အဖို့ မည်သို့သောအကျိုးရှိအံ့နည်း" ဟု လျှောက်ထားကြပြန်ရာ၊ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က "ဂျန္နတ်ရရှိကြမည်" ဟု မိန့်မှတ်တော်မူလေသည်။ ထိုသာဝကကြီးများက 'ဤအရောင်းအဝယ်ကား မြတ်လှဘိသည်၊ ကျွန်ုပ်တို့သည် ဤအရောင်းအဝယ်ကို ရုပ်သိမ်းကြမည်မဟုတ်၊ ရုပ်သိမ်းရန် ပြောဆိုကြမည်လည်း မဟုတ်' ဟု လျှောက်ထားကြလေသည်။ ထိုအချိန်တွင်ပင် ဤအာယတ်တော် ကျရောက်လာခဲ့လေသည်။ (အစ်ဗ်နုကဆီရ်၊ အစောင်-၂၊ စ-၃၉၁။ အစ်ဗ်နုဂျရီရ်၊ အစောင်-၁၁၊ စ-၂၇။)

اَلتَّآئِبُوْنَ الْعٰبِدُوْنَ الْحٰمِدُوْنَ السَّآئِحُوْنَ الرّٰكِعُوْنَ السّٰجِدُوْنَ الْاٰمِرُوْنَ بِالْمَعْرُوْفِ وَالنَّاهُوْنَ عَنِ الْمُنْكَرِ وَالْحٰفِظُوْنَ لِحُدُوْدِ اللّٰهِ ؕ وَبَشِّرِ الْمُؤْمِنِیْنَ ﴿١١٢﴾

၁၁၂။ ထို စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ကြသော (မုဂျာဟစ်ဒ်များသည်) ဝန်ချ တောင်းပန်လျက် ရှိကြသူများ၊ ဝတ်ပြုလျက် ရှိကြသူများ၊ ချီးမွမ်း ထောမနာပြုလျက်ရှိကြသူများ၊ ဥပုသ်သီလ ဆောက် တည်လျက် [၁] ရှိကြသူများ၊ 'ရုကူအ်' ဦးညွှတ်လျက် ရှိကြသူများ၊ 'စဂျ်ဒဟ်' ပျပ်ဝပ်ဦးချလျက်ရှိကြသူများ၊ ထို့ပြင် ကောင်းမှုများကို အမိန့်ပေးညွှန်ကြားလျက် ရှိကြသူများ၊ မကောင်းမှုများမှ တားမြစ်လျက်ရှိကြ သူများ ဖြစ်ကြကုန်၏။ ၎င်းပြင် အလ္လာဟ်အရှင်မြတ် ၏ စည်းကမ်းများကို စောင့်စည်းထိန်းသိမ်းသူများ ဖြစ်ကြကုန်၏။ (အို-နဗီတမန်တော်) အသင်သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အား သတင်း ကောင်း ပြောကြားပါလေ။

---

(၁) (စာအေ့ဟူန) ဟူသောပုဒ်သည် (စိယာဟတ်) ဟူသော မူရင်းပုဒ်မှ ဆင်းသက်လာသည်။ ယင်းပုဒ်၏မူရင်း အနက်မှာ ခရီးသွားလာခြင်းဖြစ်သည်။ မုဖတ်စ်စစ်ရ်ခေါ် ကုရ်အာန်ကျမ်းတော်မြတ်၏ အဖွင့်စီရင်ရေးသားကြသော ဆရာတော်များသည် 'စာအေ့ဟူန'-ဟူသော ပုဒ်၏အနက်ကို အောက်ပါအတိုင်း အမျိုးမျိုးဖွင့်ဆိုရေးသားကြသည်။

(၁) အချို့က 'စာအေ့ဟူန' ၏ အနက်သဘောမှာ 'ဆွိယာမ် ဥပုဒ်သီလ ဆောက်တည်ကြသောသူများ ဖြစ်သည်' ဟူ၍ ဆိုကြသည်၊ အဘယ့်ကြောင့်ဆိုသော် ဆွိယာမ်ဥပုဒ်သည်များသည် စားဖွယ် သောက်ဖွယ်နှင့် အခြားနှစ်လိုဖွယ်ရာ အားလုံးကိုသံယောဇဉ်ဖြတ်၍ ဝိညာဉ်လောက၊ ကောင်းကင်တမန် များလောကတွင် ခရီးသွားလာလျက်ရှိသော ခရီးသည်များ ဖြစ်ကြပေသည်။

(၂) အချို့က 'စာအေ့ဟူန' ၏ အနက်သဘောမှ'ဟစ်ဂျ်ရတ်' ပြုလုပ်ကြသော 'မုဟာဂျိရိန်' များဖြစ်သည်ဟု ဆိုကြသည်။ အဘယ့်ကြောင့်ဆိုသော် 'မုဟာဂျိရိန်' များသည် မိမိတို့၏ အိုးအိမ်များနှင့် သံယောဇဉ်ဖြတ်၍ 'ဒရုလ်အစ္စလာမ်' 'အစ္စလာမ့်တိုင်းပြည်'တွင် သွားရောက်နေထိုင်ကြသည်။

(၃) အချို့က 'စာအေ့ဟူန' ၏ အနက်သဘောမှာ "အလ္လာဟ် အရှင်မြတ်၏ လမ်းတော်၌ ဂျိဟာဒ်ပြုလုပ်ကြသော 'မုဂျာဟစ်ဒ်' များဖြစ်သည်" ဟုဆိုကြသည်။ ထိုသူတို့သည် မိမိတို့၏ အသက်ဇီဝိန်များနှင့်ပင် သံယောဇဉ်ဖြတ်၍ အစွန့်ကြီးစွန့်ရန်အတွက် ထိုအရှင်မြတ်၏ လမ်းတော်၌ ထွက်လာကြလေသည်။

(၄) အချို့က 'စာအေ့ဟူန'၏ အနက်သဘောမှာ "အိုးအိမ်၊ သားချင်းနှင့် အေးချမ်းသာယာစွာ နေထိုင်ရမှုများ ကို သံယောဇဉ်ဖြတ်ပြီး အစ္စလာမ်ရေးရာ ပညာရပ်များကို လေ့လာ ဆည်းပူးရန်အတွက် တိုင်းတပါးသို့ သွားရောက်ကြသော ပညာတော်သင်များ ဖြစ်သည်" ဟု ဆိုကြသည်။

مَا كَانَ لِلنَّبِيِّ وَالَّذِينَ آمَنُوا أَن يَسْتَغْفِرُوا لِلْمُشْرِكِينَ وَلَوْ كَانُوا أُولِي قُرْبَىٰ مِن بَعْدِ مَا تَبَيَّنَ لَهُمْ أَنَّهُمْ أَصْحَابُ الْجَحِيمِ ﴿١١٣﴾

**၁၁၃။** နဗီတမန်တော်မြတ်၌၊ ထို့အတူ မုအ်မင်န် သက်ဝင်ယုံကြည်သူတို့၌၊ မုရှ်ရစ်က် တို့အဖို့ ၎င်းတို့သည် ၎င်းတို့၏ ဆွေမျိုးနီးစပ်သူများ ဖြစ်ကြသော်လည်း၊ ၎င်းတို့သည် ငရဲသားများဖြစ်ကြောင်း မိမိတို့၌ ထင်ရှားခဲ့ပြီးနောက် (အလ္လာဟ်အရှင်မြတ်အထံတော်၌) *လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြားပေးပိုင်ခွင့်မရှိချေ။* [၁]

---

⑴ မုအ်မင်န်များသည် မိမိတို့၏ အသက်များနှင့် ဥစ္စာပစ္စည်းများကို အလ္လာဟ်အရှင်မြတ်၏ အထံတော်၌ စွန့်လှူထားကြပြီးဖြစ်ရာ ၎င်းတို့သည် အရာရာတွင် ထိုအရှင်မြတ် အဖို့သာလျှင် ဖြစ်ရှိနေကြရမည်ဖြစ်သည်။ အရာရာသည် အလ္လာဟ်အရှင်မြတ်အဖို့ ဖြစ်ရှိနေကြသဖြင့်၊ အလ္လာဟ်အရှင်မြတ်၏ ရန်သူများကို (ထိုရန်သူများသည် မိမိတို့၏အဖ၊ အမိ၊ ဘကြီး၊ ဦးရီး . . စသည့် ရင်းချာသော သားချင်းများပင် ဖြစ်နေကြလင့်ကစား) သနားကြင်နာ ရန်မလိုပေ။

အလ္လာဟ်အရှင်မြတ်၏ ရန်သူများသည် ထိုအရှင်မြတ်အား ယုံကြည်မြတ်နိုးလျက်၊ ထိုအရှင်မြတ်၏ လမ်းတော်၌ အသက်နှင့် ဥစ္စာပစ္စည်းများကို စွန့်လှူလျက်ရှိကြသော မုအ်မင်န်တို့၏ မိတ်ဆွေများ မည်သို့ ဖြစ်နိုင်အံ့နည်း။ အကြင်သူများနှင့် ပတ်သက်၍ ထိုသူများသည် ငရဲသားများဖြစ်ကြောင်းကို ဝဟီဖြင့်ဖြစ်စေ၊ သို့တည်းမဟုတ် ကာဖိရ်၊ မွတ်ရှ်ရစ်က်အဖြစ်နှင့် သေဆုံးသွားသည်ဖြစ်စေ၊ အတိအကျ သိရှိရသောအခါ ထိုသို့သော ကာဖိရ်၊ မုရှ်ရစ်က်များအဖို့ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားမပေးရန် တားမြစ်ထားတော်မူသည်။

အချို့ 'ရိဝါယားတ်' ကျမ်းချက်များတွင် "ဤအာယတ်တော်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)၏ မယ်တော်နှင့် ပတ်သက်၍ ကျရောက်လာခဲ့ခြင်းဖြစ်သည်"ဟု လာရှိသည်။

အချို့ 'ဟဒီဆ်' ဩဝါဒတော်များတွင် "ဤအာယတ်တော်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)၏ ဘကြီးတော် အဗူတွာလစ်ဗ်နှင့် ပတ်သက်၍ ကျရောက်လာခဲ့ခြင်းဖြစ်သည်" ဟု လာရှိ၏။

အချို့ကျမ်းချက်များတွင် "မွတ်စ်လင်မ်များသည် ကာဖိရ်၊ မုရှ်ရစ်က်များအဖြစ်နှင့် သေဆုံးသွားခဲ့ကြသော မိမိတို့၏ အဘ၊ အဘိုး၊ အဘေးများအဖို့ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားပေးလိုကြသောအခါ ဤအာယတ်တော် ကျရောက်ခဲ့သည်" ဟု ဆိုထားပေသည်။

ဤသည့်အဆိုများနှင့် အခြားအဆိုများကို အစ်ဗ်နုကဆီရ်၊ အစောင်-၂၊ စ-၃၉၃-၃၉၅ တွင်လည်းကောင်း၊ အစ်ဗ်နုဂျရီရ်၊ အစောင် ၁၁၊ စ- ၃၀-၃၄တွင်လည်းကောင်း၊ ဒုရ်ရိမန်ဆူရ်၊ အစောင် ၃၊ စ- ၂၈၂-၂၈၄တွင်လည်းကောင်း တွေ့ရှိရပေသည်။

ဤအာယတ်တော် ကျရောက်လာခဲ့ရသည့် အတ္တုပတ္တိမှာ မည်သို့ပင်ဖြစ်စေကာမူ အမိန့်တော်မှာကား "ကာဖိရ်၊ မုရှ်ရစ်က်အဖြစ်နှင့် သေဆုံးသွားကြသော ကာဖိရ်မုရှ်ရစ်က်များအဖို့ လွတ်ငြိမ်းချမ်းသာခွင့် ရရှိစေရန် ပန်ကြားပေးပိုင်ခွင့် အလျှင်းမရှိ" ဟူ၍ပင် ဖြစ်သည်။

وَمَا كَانَ اسْتِغْفَارُ إِبْرٰهِيمَ لِأَبِيهِ إِلَّا عَن مَّوْعِدَةٍ وَعَدَهَا إِيَّاهُ فَلَمَّا تَبَيَّنَ لَهُ أَنَّهُ عَدُوٌّ لِّلّٰهِ تَبَرَّأَ مِنْهُ إِنَّ إِبْرٰهِيمَ لَأَوَّاهٌ حَلِيمٌ ﴿١١٤﴾

၁၁၄။ စင်စစ်သော်ကား (နဗီတမန်တော်) အစ်ဗ်ရာဟီမ်သည် မိမိဖခင်အဖို့ လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြားခဲ့သည်မှာ ထို(နဗီတမန်တော်) အစ်ဗ်ရာဟီမ်သည် ဖခင်အားပေးခဲ့သော *ကတိဝန်ခံချက်ကြောင့်သာဖြစ်ပေ၏။* [၁] တစ်ဖန်ထို(နဗီတမန်တော်) အစ်ဗ်ရာဟီမ်၌ (ဖခင်)သည် အလ္လာဟ်အရှင်မြတ်၏ ရန်သူဖြစ်ကြောင်း ထင်ရှားခဲ့သောအခါ ထို(နဗီတမန်တော်) အစ်ဗ်ရာဟီမ်သည် ဖခင်နှင့် (မည်သို့မျှ) မသက်ဆိုင်၊ မပတ်သက်ဟူ၍ ငြင်းဆိုခဲ့လေ၏။ ဧကန်စင်စစ် (နဗီတမန်တော်)အစ်ဗ်ရာဟီမ်သည် *စိတ်နှလုံး အလွန်နူးညံ့သူ၊* [၂] သည်းခံခြင်းတရား အလွန်ထားရှိသူ ဖြစ်ခဲ့ပေသတည်း။

---

(၁) စူရဟ်မရ်ယမ် (၁၉:၄၁ မှ ၅၀)တွင် လာရှိသည်မှာ တမန်တော် အစ်ဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)၏ ဖခင်သည် အမှန်တရားကို သွေဖည်၍ မနာလို မုန်းတီးမှုကြောင့် တမန်တော် အစ်ဗ်ရာဟီမ်အား သတ်ဖြတ်ပစ်ရန်ပင် ကြိမ်းမောင်းခဲ့လေသည်။ သို့တစေလည်း တမန်တော် အစ်ဗ်ရာဟီမ်သည် မိဘတို့အား ရိုသေမြတ်နိုးအပ်သော ဂါရဝတရားရှေ့ထား၍ ....

"အသင်အပေါ်၌ ချမ်းမြေ့သာယာခြင်း အပေါင်းသက်ရောက်ပါစေ၊ ကျွန်တော်သည် မိမိအရှင့်ထံ၌ အသင့်အဖို့ ချမ်းသာခွင့် ပန်ကြားပါမည်၊ မုချ ထိုအရှင်မြတ်သည် ကျွန်တော့်အပေါ်၌ အထူးကရုဏာထားတော်မူသော အရှင်ဖြစ်တော်မူပါသည်" ဟု ပြောဆိုကတိပေးလေသည်။ ယင်းသို့ ကတိပေးခဲ့သည့်အတိုင်း တမန်တော်အစ်ဗ်ရာဟီမ်သည် မိမိဖခင်အဖို့ အမြဲတစေ လွတ်ငြိမ်းခွင့်ပန်ကြားလျက် ရှိခဲ့ကြောင်း ကုရ်အာန်ကျမ်းမြတ် (၂၆း၈၆)တွင် "အို-အရှင်မြတ်၊ ကျွန်တော်မျိုး၏ဖခင်အား ချမ်းသာခွင့်ပေးသနားတော်မူပါ" ဟူ၍ အတည့်အလင်းပါရှိလေသည်။ ယင်းသို့ ဆုပန်ခြင်းမှာ တမန်တော်အစ်ဗ်ရာဟီမ်သည် ကုဖ်ရ်၊ ရှရ်စ်ကမှုအပေါ်၌ ရပ်တည်လျက်ရှိသော မုရှ်ရစ်ကတဦးအဖို့ လွတ်ငြိမ်းခွင့် ပန်ကြားခဲ့သည်မဟုတ်။ ယင်းသို့ ဆုပန်ခြင်း၏ အလိုသဘောမှာ ကုဖ်ရ်၊ ရှရ်စ်ကမှုတို့မှ လွတ်မြောက်၍ အစ္စလာမ့်ဘောင်အတွင်းသို့ ရောက်ရှိလာရန်နှင့် အစ္စလာမ့်သာသနာကို လက်ခံမှုဖြင့် ယခင်က ကျူးလွန်မိခဲ့သော ပြစ်မှုများမှ ချမ်းသာခွင့်ရရန်အကြောင်း ဖြစ်စေရန် အလို့ငှာသာ ဖြစ်ချေသည်။ အစ္စလာမ်သည် မိမိကို လက်မခံမီအလျင် ဖြစ်ခဲ့သော ပြစ်မှုများကို ပလပ်စေသည်သာဖြစ်သည်။ ဆွဟာဗဟ်သာဝကကြီးများသည် ကုရ်အာန်ကျမ်းတော်မြတ်တွင် တမန်တော် အစ်ဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)က မိမိ၏ဖခင်ကြီးအတွက် လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားခဲ့သည့် အကြောင်းကို ရွတ်ဖတ်မိကြသောအခါ အချို့သာဝကများ၏စိတ်တွင် "ငါတို့သည်လည်း မိမိတို့၏ ဖခင်များအတွက် လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားကြမည်" ဟူသောအတွေးအခေါ် ဖြစ်ပေါ်လာခဲ့သည်။ ယင်းသို့သော အတွေးအခေါ်နှင့်စပ်လျဉ်း၍ "တမန်တော် ➢➢

၁၁၅။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် မည်သည့်လူမျိုးကိုမဆို ထိုလူမျိုးတို့အား တရားလမ်းမှန်သို့ ပို့တော်မူပြီးနောက်၊ ၎င်းတို့ ရှောင်ကြဉ်ကြရမည့်အရာများကို ထင်ရှားစွာ မိန့်ကြားတော်မူခြင်း ပြုတော်မမူသမျှ ကာလပတ်လုံး လမ်းလွဲစေတော်မူသည် မဟုတ်ချေ။ ①

وَمَا كَانَ اللّٰهُ لِيُضِلَّ قَوْمًا بَعْدَ اِذْ هَدٰىهُمْ حَتّٰى يُبَيِّنَ لَهُمْ مَّا يَتَّقُوْنَ

➤➤ အစ်ဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်)က မိမိဖခင်အတွက် ချမ်းသာခွင့် ပန်ကြားခဲ့ခြင်းမှာ မိမိပြုထားခဲ့သော ကတိအရ မိမိ၏ဖခင်သည် ကာဖိရ်၊ မုရှိရစ်က်၊ အလ္လာဟ်ရန်သူအဖြစ်နှင့် သေဆုံးမည်ကို အတိအကျ မသိရှိရသည့်အချိန်အထိသာ ဖြစ်ခဲ့ကြောင်း ထိုတမန်တော်၏ ဖခင်အဖို့ မသေမီအလျင် ဝန်ချတောင်းပန်၍ အစ္စလာမ့်ဘောင်အတွင်းသို့ ရောက်ရှိကာ ချမ်းသာခွင့် ရနိုင်ဖွယ်ရာ အကြောင်းရှိမည်ဟု မျှော်ကိုးမိခဲ့ကြောင်း၊ သို့သော် ထိုတမန်တော်၏ ဖခင်သည် ကာဖိရ်၊ မုရှိရစ်က်အဖြစ်နှင့် သေဆုံးသွားခဲ့ပြီး၊ အလ္လာဟ်အရှင်မြတ်၏ ရန်သူဖြစ်ကြောင်း ထင်ရှားလာသည့်အခါ တမန်တော် အစ်ဗ်ရာဟီမ်သည် မိမိဖခင် အဖို့ချမ်းသာခွင့်ပန်ကြားခြင်း အလျင်းမပြုတော့ကြောင်း၊ တမန်တော်အစ်ဗ်ရာဟီမ်သည် စိတ်နှလုံးနူးညံ့၍ အလွန်ခံနိုင်ရည်ရှိခဲ့သည့်အတွက် ယခင်က လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားခဲ့ခြင်း ဖြစ်ကြောင်း၊ ယခုမူ မိမိ၏ဖခင်အဖို့ ဝန်ချတောင်းပန်ရန် မျှော်လင့်ချက်များ လုံးဝမရှိတော့သည်ဖြစ်၍ တမန်တော်သည် မိမိဖခင်အဖို့ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားခြင်းကို တမန်တော်တစ်ပါး၌ ရှိအပ်သည့် ဂုဏ်ရည်နှင့်အညီ သည်းခံကာ လက်လျှော့လိုက်ကြောင်း တို့ကို ဤအာယတ်တော်တွင် ဖြေကြားထားတော်မူပေသည်။

② (အောင်ဝါဟွန်) ဟူသောပုဒ်၏ အနက်ကို အောက်ပါအတိုင်း အမျိုးမျိုး ဖွင့်ဆိုရေးသားကြသည်ကို တွေ့ရှိရသည်။

၁။ ကြောက်ရွံ့ရှိသေသူ၊ နိဝါတ တရားထားရှိသူ။

၂။ များစွာဆုပန်ကြားသူ။

၃။ များစွာဝန်ချတောင်းပန်သော မုအ်မင်န်။

၄။ အလ္လာဟ်အရှင်မြတ်၏ ကျွန်များကို သနားကြင်နာသူ။

၅။ ယုံကြည်သူ။

၆။ များစွာညည်းညူသူ။

၇။ အလ္လာဟ်အရှင်မြတ်အား များစွာအောက်မေ့တသ သတိရသူ။

၈။ 'တဟ်စ်ဗီးဟ်' စီးဖြန်းသူ။

၉။ ကောင်းရာကိုသင်ကြားပြသသူ။

၁၀။ အလ္လာဟ်အရှင်မြတ် မနှစ်သက်တော်မူသော အရာကို ရှောင်ကြဉ်ကာ ငရဲမီးကို ကြောက်ရွံ့သူ။

၁၁။ သနားကြင်နာမှု ကြောက်ရွံ့မှုဖြင့် ညည်းတွားသူ၊ ယုံကြည်ခြင်း၊ စွဲစွဲမြဲမြဲလိုက်နာခြင်းဖြင့် ကြို့ငံ့သူ။ (ကြည့်-ခါဇင်န်၊ အစောင်-၃၊ စ-၁၂၈။)

① အလ္လာဟ်အရှင်မြတ်သည် ကျင့်ရန်ကြဉ်ရန်တရားဒေသနာတော်များကို အပြည့်အစုံ၊ အတိအကျ ➤➤

إِنَّ ٱللَّهَ بِكُلِّ شَيْءٍ عَلِيمٌ ﴿١١٥﴾

ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

إِنَّ ٱللَّهَ لَهُۥ مُلْكُ ٱلسَّمَٰوَٰتِ وَٱلْأَرْضِ ۖ يُحْىِۦ وَيُمِيتُ ۚ وَمَا لَكُم مِّن دُونِ ٱللَّهِ مِن وَلِىٍّ وَلَا نَصِيرٍ ﴿١١٦﴾

၁၁၆။ ဧကန်စင်စစ် မိုးကောင်းကင်များကို စိုးမိုးအုပ်ချုပ်ခြင်းသည်လည်းကောင်း၊ ပထဝီမြေကို စိုးမိုးအုပ်ချုပ်ခြင်းသည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၌သာရှိချေသည်။ ထိုအရှင်မြတ်သည်သာလျှင် ရှင်စေတော်မူသည်၊ ထိုအရှင်မြတ်သည်သာလျှင် သေစေတော်မူသည်။ ထိုမှတပါး အလ္လာဟ်အရှင်မြတ် အပြင် အသင်တို့အဖို့ အဆွေခင်ပွန်းဟူ၍လည်းကောင်း၊ ကူညီမိုင်းမမည့်သူဟူ၍လည်းကောင်း တဦးတယောက်မျှ မရှိချေ။[၁]

لَّقَد تَّابَ ٱللَّهُ عَلَى ٱلنَّبِىِّ وَٱلْمُهَٰجِرِينَ وَٱلْأَنصَارِ

၁၁၇။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် နဗီတမန်တော်မြတ် အပေါ်သို့လည်းကောင်း၊ အကြင် 'မုဟာဂျိရိန်'နှင့် 'အန်ဆွာရ်' သာဝကများအပေါ်သို့လည်းကောင်း၊ ကရုဏာတော်နှင့်လှည့်တော်မူခဲ့လေပြီ။

➤➤ ထင်လင်းစွာ သင်ကြားပို့ချခြင်းပြုတော်မမူမီ မည်သူ့ကိုမျှ လမ်းလွဲ လမ်းမှားစေတော်မူသည်မဟုတ်။ ကျင့်ရန်ကြဉ်ရန် တရားဒေသနာတော်များကို ထင်လင်းစွာ ဟောကြားပို့ချစေတော်မူပြီးသည့် နောက်ပိုင်းတွင် ထိုတရားဒေသနာတော်များကို မလိုက်နာမကျင့်သုံးမှသာ လမ်းလွဲမှားခြင်း ဖြစ်ရသည်။ တစ်နည်းအားဖြင့် တားမြစ်ထားတော်မူသော အမိန့်တော်မကျ၊ မရောက်မီအလျင် မုရှ်ရစ်က်များအဖို့ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားခဲ့သူများအပေါ်၌ ယင်းသို့ ဆုပန်ကြားခဲ့ကြသည့်အတွက် တစုံတရာ အပြစ်မရှိကြောင်းကို ဤအာယတ်တော်တွင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။ သို့ရာတွင် ယင်းသို့တားမြစ်တော်မူသော အမိန့်တော် ရောက်ရှိလာပြီးသည့် နောက်ပိုင်းတွင် မုရှ်ရစ်က်များအဖို့ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားပါမူ အပြစ်ရှိမည်သာ ဖြစ်သည်။ လမ်းလွဲမှားမည်သာ ဖြစ်သည်။

(၁) ကမ္ဘာ့အဝန်းတွင် အလ္လာဟ်အရှင်မြတ်၏ အာဏာတော်သည်သာ တည်ရှိသည်ဖြစ်ရာ ထိုအရှင်မြတ်၏ အမိန့်တော်များသာလျှင် အတည်ဖြစ်ရပေမည်။ ထိုအရှင်မြတ်သည် သိမြင်နှံ့စပ်သော ဉာဏ်တော်ရှင်လည်း ဖြစ်တော်မူ၏။ အပိုင်းအခြားမရှိ၊ အဆုံးမရှိသော တန်ခိုးတော်ရှင်လည်း ဖြစ်တော်မူ၏။ ထိုသို့သော အရှင်မြတ်က ထုတ်ပြန်၊ ချမှတ်တော်မူသော အမိန့်ပညတ်တော်များကို လိုက်နာကျင့်သုံးရာတွင် မည်သူ့ကိုမျှ ကြောက်ရွံ့ရန်မရှိ၊ ထောက်ထားရန်မလိုပေ။ ထိုအရှင်မြတ်မှတစ်ပါး ကူညီယိုင်းပင်းနိုင်သူဟူ၍ မည်သူမျှမရှိသောကြောင့် ကြောက်ရန်၊ ထောက်ထားရန် မလိုခြင်းပင်ဖြစ်သည်။

الَّذِيْنَ اتَّبَعُوْهُ فِيْ سَاعَةِ الْعُسْرَةِ مِنْۢ بَعْدِ مَا كَادَ يَزِيْغُ قُلُوْبُ فَرِيْقٍ مِّنْهُمْ ثُمَّ تَابَ عَلَيْهِمْ ۗ اِنَّهٗ بِهِمْ رَءُوْفٌ رَّحِيْمٌ ۙ﴿١١٧﴾

ယင်း 'မုဟာဂျိရီန်' နှင့် 'အန်ဆွာရ်' သာဝက တို့သည် မိမိတို့အနက် လူတစု၏ စိတ်နှလုံးများ တိမ်းစောင်းလုဆဲဆဲ ဖြစ်ပြီးနောက် ကျပ်တည်းသော အချိန်ကာလ၌ [၁] နဗီတမန်တော်မြတ်၏နောက်သို့ လိုက်ခဲ့ကြကုန်၏။ ထို့နောက် အရှင်မြတ်သည် ၎င်းတို့အပေါ်၌ ကရုဏာတော်နှင့် လှည့်တော်မူခဲ့လေသည်။ မုချဧကန် ထိုအရှင်မြတ်သည် ၎င်းတို့နှင့်ပတ်သက်၍ အလွန်တရာ သနားကြင်နာတော်မူသောအရှင်၊ အလွန်တရာ ညှာတာတော်မူသောအရှင် ဖြစ်တော်မူ၏။ [၂]

---

(၁) ကျပ်တည်းသော အချိန်ဟူသည် 'တဗူးက်' စစ်ပွဲ ဖြစ်ပွားသော အချိန်ကို ဆိုလိုသည်။ ထိုအချိန်တွင် မွတ်စ်လင်မ်များသည် ကျပ်တည်းမှု၊ ခဲယဉ်းမှု အမျိုးမျိုးတို့နှင့် ရင်ဆိုင်နေခဲ့ကြရသည်။ ဥပမာဆိုရလျှင် ထိုအချိန်တွင် နေပူရှိန်သည် အလွန်တရာမျှ ပြင်းထန်လျက်ရှိခဲ့၏။ သွားရောက်ရမည့်ခရီးမှာလည်း အလွန်တရာမျှ ဝေးလံလှ၏။ စွန်ပလွံသီးများ သီးမှည့်မည့် အချိန်လည်းဖြစ်နေ၏။ ပြိုင်ဆိုင်တိုက်ခိုက်ရမည့် ရန်သူမှာလည်း ထိုခေတ် ထိုအခါတွင် အင်အားအကြီးမားဆုံးသော တိုင်းပြည်မှဖြစ်နေ၏။ ထို့ပြင် မွတ်စ်လင်မ်တို့၌ စစ်လက်နက် စားနပ်ရိက္ခာသည်လည်း အလွန်တရာမျှ ချို့တဲ့လျက်ရှိခဲ့၏။ စွန်ပလွံသီး တလုံးကိုပင် စစ်သည်နှစ်ဦးအား ခွဲဝေပေးခဲ့ရ၏ နောက်ဆုံးတွင် များစွာသောစစ်သည်များသည် စွန်ပလွံသီးတလုံးတည်းကိုပင် အလှည့်ကျစုတ်၍ ရေသောက်နေခဲ့ကြရသည့် အခြေအနေသို့ပင် ရောက်ခဲ့ရ၏။ ထို့နောက်တစ်ဖန် ရေမရှိသည့်အတွက် ကုလားအုတ်များ၏ အညစ်အကြေးများကို ညှစ်၍ သောက်ခဲ့ကြရလေသည်။ ထိုစစ်ပွဲတွင် မွတ်စ်လင်မ်တို့အဖို့ အစီးအနင်းမှာလည်း အလွန်တရာမျှ နည်းပါးလှ၏။ စစ်သည်ဆယ်ဦးလျှင် ကုလားအုပ်တကောင်ကျ အလှည့်ကျ စီးနင်းခဲ့ကြရ၏။ ဤကဲ့သို့ ပင်ပန်းကြီးစွာဖြင့် ဒုက္ခကြီးငယ်တို့ကို ရင်ဆိုင်ကာ သက်စွန့်ကြိုးပမ်း ဆောင်ရွက်မှုတို့ကြောင့် လက်တဆုပ်စာမျှသော မွတ်စ်လင်မ်တို့သည် ကမ္ဘာ့ရှေ့မှောက်၌ မားမားမတ်မတ် ရပ်တည်နိုင်ခဲ့ခြင်းဖြစ်သည်။ ဤကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင်။

(၂) အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အပေါ်၌ များပြားလှပေသည်။ ထိုမှတစ်ဖန် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ကျေးဇူးတော်ဖြင့် အလ္လာဟ်အရှင်မြတ်သည် မုဟာဂျိရီန်၊ အန်ဆွာရ် သာဝကကြီးများကိုလည်း အထူးတလည် သနားကြင်နာ ကြည့်ရှု ထောက်မတော်မူခဲ့လေသည်။ ထိုအရှင်မြတ်သည် ၎င်းတို့အား "အီမာန်" ယုံကြည်မှုနှင့် 'အစ်ရ်ဖာန်' အသိတရားကို ချီးမြှင့်တော်မူခဲ့လေသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အမိန့်နာခံရန်၊ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ဂျီဟာဒ်ပြုရန်နှင့် ကြီးမားခက်ခဲလှသည့် ကိစ္စများကို အောင်မြင်စွာ ကြိုးပမ်းဆောင်ရွက်နိုင်ရန်အတွက် စွမ်းအားသတ္တိများကိုလည်း ပေးသနားတော်မူခဲ့လေသည်။ ထို့ပြင်တဝ ကြီးမားများပြားလှသည့် အခက်အခဲ၊ အကျပ်အတည်းများကို တွေ့မြင်ပြီး အချို့မုအ်မင်န်များ၏ ➤➤

وَّعَلَى الثَّلٰثَةِ الَّذِيْنَ خُلِّفُوْا ۭ حَتّٰٓي اِذَا ضَاقَتْ عَلَيْهِمُ الْاَرْضُ بِمَا رَحُبَتْ وَضَاقَتْ عَلَيْهِمْ اَنْفُسُهُمْ وَظَنُّوْٓا اَنْ لَّا مَلْجَاَ مِنَ اللّٰهِ اِلَّآ اِلَيْهِ ۭ ثُمَّ تَابَ عَلَيْهِمْ لِيَتُوْبُوْا ۭ اِنَّ اللّٰهَ هُوَ التَّوَّابُ الرَّحِيْمُ ﴿١١٨﴾

၁၁၈။ ထို့အတူ (ထို အရှင်မြတ်သည်) အကြင် (သာဝက)သုံးဦးတို့ [၁] အပေါ်၌လည်း (ကရုဏာတော် နှင့်လှည့်တော်မူခဲ့၏။) ထိုသုံးဦးတို့သည် (မည်သို့မျှ အဆုံးအဖြတ်ကို မရရှိကြသေးဘဲ) ရွှေ့ဆိုင်းခြင်း ခံခဲ့ကြရလေရာ၊ နောက်ဆုံးတွင် ပထဝီမြေသည် ဤမျှကျယ်ဝန်းပါလျက်နှင့်ပင် ၎င်းတို့အပေါ်၌ ကျဉ်းကျပ်လာလေတော့၏။ ထို့ပြင် ၎င်းတို့ အသက် ထင်ရှားရှိနေခြင်းသည်ပင် ၎င်းတို့အပေါ်၌ ကျပ်တည်း ခဲယဉ်းလာခဲ့လေသည်။ ထိုမှတစ်ပါး ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်(၏အမျက်တော်)မှ လွတ်ကင်းရန် ထိုအရှင်မြတ်အထံတော်မှတပါး အခြား မည်သည့် ခိုကိုးရာဌာနမျှမရှိသည်ကို ယုံကြည်လာခဲ့ကြလေသည်။

ထို့နောက် ထိုအရှင်မြတ်သည် ၎င်းတို့ (အနာဂတ်ကာလများတွင်လည်း ပြစ်မှု ကျူးလွန်မိ တိုင်း အရှင်မြတ်အထံတော်သို့) ပြန်လှည့်နိုင်ကြ ခြင်းငှာ ၎င်းတို့ပေါ်၌ ကရုဏာတော်နှင့် လှည့်တော်မူခဲ့ လေသည်။ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် ကရုဏာတော်နှင့် လှည့်တော်မူသောအရှင်၊ အလွန် တရာ သနားကြင်နာ ညှာတာတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

➤➤ စိတ်နှလုံးများ တုန်လှုပ် ချောက်ချား၍ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) အား စွန့်ခွာသွားလုဆဲဆဲ ဖြစ်နေသည့် အချိန် အခါတွင်လည်း၊ အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့အား မိမိ၏ ကျေးဇူးတော်ဖြင့် အမှားမှား အယွင်းယွင်း တွေးထင်၊ အမှားမှား အယွင်းယွင်း ပြုလုပ်ခြင်းများမှ ထိန်းသိမ်း ကာကွယ် စောင့်ရှောက်တော် မူခဲ့လေသည်။ မုအ်မင်န်တို့၏ စိတ်ဓာတ်နှင့် စွမ်းရည်သတ္တိများကိုလည်း မြှင့်တင် ပေးတော်မူခဲ့လေသည်။

(၁) **မိမိတို့၏အမှားကို ဝန်ခံခဲ့ကြသည့် သာဝကကြီးသုံးပါး၊**

ဤအာယတ်တော်တွင် ပါရှိသော ပုဂ္ဂိုလ်သုံးဦးတို့ကား (၁) သာဝကကြီးကအ်ဗ် အစ်ဗ်နုမာလစ်က်၊ (၂) သာဝကကြီး ဟိလာလ် အစ်ဗ်နုအူမိုင်ယဟ်၊ (၃) သာဝကြီး မူရာရဟ် အစ်ဗ်နုအလ်ရဗိအ်တို့ ဖြစ်ကြသည်။ ထိုသာဝကကြီး သုံးပါးသည် စိတ်စေတနာ ဖြူစင်စွာဖြင့် အီမာန်ယုံကြည်ကြကုန်သော မုအ်မင်န်များ ➤➤

➤➤ ဖြစ်ကြပေသည်။ သို့ပါလျက် တရားဝင်အကြောင်းမရှိဘဲ အပင်ပန်းမခံလိုမှု၊ ရေသာခိုလိုမှု၊ အလွယ်ကြိုက်လိုမှုများအတွက်ကြောင့်သာ တဗူးက်စစ်ပွဲသို့ လိုက်ပါဆင်နွှဲခြင်းမပြုဘဲ ချန်ရစ်ခဲ့ကြလေသည်။

တဗူးက်စစ်ပွဲမှ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ပြန်ကြွလာတော်မူသည့်အခါ ယင်းသာဝကကြီးသုံးပါးတို့သည် မုနာဖစ်က်များကဲ့သို့ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတော်တွင် လိမ်လည်လှည့်ဖြား၍ မဟုတ်မမှန်သော အကြောင်းပြချက်များကို တင်ပြခြင်းလည်းမပြု၊ အခြားသာဝကကြီးများကဲ့သို့ မိမိတို့ကိုယ်ကို ကျောင်းတော်၏တိုင်များတွင် ခြည်နှောင် တုပ်နှောင်ထားခြင်းလည်း မပြုခဲ့ကြပေ။ မိမိတို့၏ ဖြစ်ရပ်မှန်များကို အမှန်အတိုင်းသာ တင်ပြ၍ မိမိတို့၏အမှားကို အတည့်အလင်း ဝန်ခံခဲ့ကြလေသည်။

ထိုအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မုနာဖစ်က်တို့အား မျက်မြင်၌ လျစ်လျူပြုထားတော်မူ၍ ယင်းမုနာဖစ်က်တို့၏ အတွင်းရေးများကို အလ္လာဟ်အရှင်မြတ်ထံတော်တွင် လွှဲအပ်တော်မူလေသည်။ မိမိတို့ကိုယ်ကို ကျောင်းတော်၏တိုင်များတွင် ချည်နှောင်တုပ်နှောင်ထားကြသော သာဝကကြီးများ၏ ဝန်ချတောင်းပန်မှုကို လက်ခံတော်မူလိုက်လေသည်။ သို့သော် ထိုသာဝကကြီးသုံးပါးနှင့် ပတ်သက်၍မူ တစုံတရာ အဆုံးအဖြတ်ပေးတော်မမူသေးဘဲ ဆုံးမပဲ့ပြင်သည့်သဘောဖြင့် အချိန်အတော်ကြာထိ ရွှေ့ဆိုင်း ထားတော်မူလိုက်လေသည်။ (ဤသို့ ရွှေ့ဆိုင်းထားတော်မူသည့်အကြောင်း ကုရ်အာန်ကျမ်းတော်မြတ် (၉း၁၀၆)တွင်လည်း မိန့်ဆိုထားတော်မူသည်)။ ရက်ပေါင်း (၅၀)ကျော်လွန်သည့် အခါတွင်မှ ထိုသာဝကကြီးသုံးပါးတို့၏ ဝန်ချတောင်းပန်မှုကို လက်ခံ သဘောတူတော်မူလိုက်လေသည်။

**<u>သာဝကကြီး ကအ်ဗ်အစ်ဗ်နုမာလစ်က်၏ တရားရဖွယ်ဖြစ်ထွေ</u>**

ကုရ်အာန်ကျမ်းတော်မြတ် (၉း၁၁၈)တွင် ပါရှိသည့် သာဝကကြီးသုံးပါးတို့အနက် သာဝကကြီး ကအ်ဗ် အစ်ဗ်နုမာလစ်က်သည် မိမိ၏ဖြစ်ထွေကို အကျယ်တဝင့် ထုတ်ဖော်ပြောဆိုခဲ့ပေသည်။ ဤသည့်အကြောင်းကို ဗုခါရီ၊ အစ်ဗ်နုဂျရီရ်၊ အစ်ဗ်နုကဆီရ်၊ ဒုရ်ရိမန်ဆူရ်၊ ခါဇင်န်၊ အလ်မနာရ်၊ စီရတ်အစ်ဗ်နိုဟိရှာမ် .... စသည့် ကျမ်းကြီးများတွင်လည်း အကျယ်တဝင့် ထုတ်ဖော်ရေးသားထားကြသည်။ ဤနေရာတွင် သာဝကကြီး ကအ်ဗ် အစ်ဗ်နုမာလစ်က်ထုတ်ဖော် ပြောဆိုခဲ့သည့်အကြောင်းကို အကျဉ်းအားဖြင့် ဖော်ပြလိုက်ပေသည်။

သာဝကကြီး ကအိဗ်အစ်ဗ်နုမာလစ်က်က ထုတ်ဖော်ပြောဆိုခဲ့သည်မှာ . . . တဗူးက်စစ်ပွဲအရေးတော်ကား ကြီးမားလှ၏။ ထိုအတွက် တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မွတ်စ်လင်မ်အားလုံးလှည်းနေ၊ လေ့အောင်း၊ မြင်းစောင်းတွင် ရှိနေကြသူတို့ကိုပင် စစ်ချီရေးအတွက် အသင့်ရှိနေကြရန် အမိန့်ထုတ်ပြန်တော်မူခဲ့၏။ မွတ်စ်လင်မ် အားလုံးတို့သည်လည်း တတ်စွမ်းနိုင်သမျှနှင့် စစ်ချီထွက်ရန် အသီးသီး အသင့်ပြင်ဆင်လျက်ရှိကြ၏။ ထိုအချိန်တွင် ကျွန်ုပ်သည် မိမိစိတ်တွင် "ငါတွင်အလိုရှိသည့်အခါ ချက်ချင်းစစ်ချီထွက်နိုင်သည်" ဟုတွေးဆကာ အမှုမဲ့အမှတ်မဲ့ နေခဲ့၏။ ကျွန်ုပ်ထံတွင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ပစ္စည်းအစုံအလင်ရှိ၏။ စီးနင်းရန်အတွက် အစီးအနင်းတခုမဟုတ်၊ နှစ်ခုရှိ၏။ လိုလေးသည်ဟူ၍ မရှိခဲ့သောကြောင့် ထိုသို့တွေးဆမိကာ အမှုမဲ့အမှတ်မဲ့ နေမိခဲ့ခြင်းဖြစ်၏။ ထိုကဲ့သို့ အမှုမဲ့အမှတ်မဲ့ ရှိနေခိုက်မှာပင် တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မုဂျာဟစ်ဒ်သုံးသောင်းတို့အား စစ်ချီထွက်ရန် အမိန့်ထုတ်ပြန်တော်မူလိုက်လေသည်။ ယင်းသို့ အမိန့်ထုတ်ပြန်တော်မူလိုက်သည့် အချိန်တွင်လည်း "တမန်တော်မြတ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) စစ်ချီထွက် သွားတော်မူစေကာမူ စိုးရိမ်ဖွယ်မရှိ။ ရှေ့ခရီးစခန်းတွင် ငါအမီလိုက်ပါသွားနိုင်သည်" ဟူ၍ တွေးဆကာပင် နေခဲ့၏။ ထို့နောက် "ငါယနေ့ပင်ထွက်မည်၊ နက်ဖြန်မှထွက်မည်" ဟူ၍ ➤➤

➤➤ ယနေ့နက်ဖြန်တွေးတောကာ အချိန်ရွှေးနေယင်းနှင့်ပင် အချိန်သည် ကုန်ဆုံးသွားလေတော့သည်။

တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် တဗူးက်စစ်မြေပြင်သို့ ရောက်ရှိ၍ ကျွန်ုပ်အား မမြင်တော်မူ၍ တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က 'ကအ်ဗ်အစ်ဗ်နုမာလစ်က် ဘာဖြစ်သလဲ' ဟုမေးမြန်းတော်မူရာ 'ဗနီစလ်မဟ်' မျိုးနွယ်ဝင်တစ်ဦးက "အို-အလ္လာဟ်၏ရစူလ်၊ သူ့အား သူ၏စည်းစိမ်ခံစားလိုမှုနှင့် ဂုဏ်မာနသည် စစ်ချီထွက်ခွင့်မပြုပါ" ဟု ကြားဖြတ်ဖြေကြားလေသည်။ ထိုအခါ သာဝကကြီးမုအာဇ် အစ်ဗ်နုဂျဗလ်က (ဗနီစလ်မဟ်မျိုးနွယ်ဝင်အား) "အသင်သည် မကောင်းသောစကားကိုဆိုနေသည်၊ အလ္လာဟ် အရှင်မြတ်အားတိုင်တည်၍ ပြောအံ့၊ ကျွန်ုပ်တို့သည် ကအိဗ်အစ်ဗ်နုမာလစ်က်၌ အကောင်းမှတပါး အခြား တစုံတရာမျှ မတွေ့မြင်ရပါ" ဟု ပြောဆိုလေသည်။ တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် သာဝကအချင်းချင်း ဤသို့ အချေအတင်ပြောဆိုနေကြသည်ကို နားထောင်၍ ဆိတ်ဆိတ်နေတော်မူ၏။

သာဝကကြီး ကအ်ဗ် အစ်ဗ်နုမာလစ်က်က ဆက်လက်၍ ပြောကြားသည်မှာ တမန်တော်မြတ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) စစ်ချီသွားတော်မူပြီးနောက်ပိုင်းတွင် မဒီနာမြို့တမြို့လုံး၌ မုနာဖစ်က်များနှင့် ဒုက္ခသည် မွတ်စ်လင်မ်တစုမှအပ အမျိုးသားတဦးတယောက်ကိုမျှ မတွေ့မမြင်ရသည့်အခါ ကျွန်ုပ်သည် အထူးပင် တုန်လှုပ်ချောက်ချားရကာ သောကများရပါသည်။ ထိုအချိန်၌ ကျွန်ုပ်သည် မိမိ၏စိတ်တွင် တမန်တော်မြတ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)စစ်ပွဲမှ ပြန်ကြွလာသည့်အခါ ထိုထိုဤဤ အကြောင်းပြ၍ မိမိကိုယ်မိမိ ကာကွယ်နိုင်မည့် လိမ်လည်ဖြားယောင်းမှုအမျိုးမျိုး၊ အဖုံဖုံသော အကြံအစည်များ ထုတ်ရလေသည်။ တမန်တော်မြတ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)စစ်ပွဲမှ ကောင်းမွန်ချမ်းမြေ့စွာ ပြန်လည်ရောက်ရှိလာတော်မူသည့် အကြောင်း ကြားသိရသောအခါတွင် လိမ်လည်လှည့်ဖြားရန် ကြံစည်ထားသည့် အကြံအစည်အားလုံးတို့သည် ကျွန်ုပ်၏ စိတ်နှလုံးတွင်းမှ လုံးဝပျောက်ကွယ်သွားလေသည်။ ထို့နောက် တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ထံတွင် အမှန်အကန်ပြောဆိုခြင်းမှတပါး အခြားတစုံတရာသည် လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူစေမည်မဟုတ်" ဟူ၍ ကျွန်ုပ်စိတ်တွင် ပိုင်းဖြတ်လိုက်လေသည်။

တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဗလီကျောင်းတော်သို့ ကြွမြန်းရောက်ရှိလာတော်မူ၏။ သာဝကကြီးများသည်လည်း နဗီတမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အပါးတော်တွင် အသင့်ထိုင်လျက်ရှိကြ၏။ မုနာဖစ်က်များသည် မဟုတ်မမှန်ကန်သော အကြောင်းများ တင်ပြကြကာ တစုံတရာ အရေးယူခြင်း မခံကြရဘဲ၊ မျက်မြင်အားဖြင့် လွတ်မြောက်သွားကြ၏။ ထိုအချိန်တွင် ကျွန်ုပ်သည် တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ရှေ့မှောက်သို့ရောက်၍ တမန်တော်မြတ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံ 'စလာမ်' ဆက်သရာ၊ တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) သည် ဒေါသအပြုံးဖြင့် စစ်ပွဲသို့ မလိုက်ပါသည့်အကြောင်း မေးမြန်းတော်မူ၏။ ကျွန်ုပ် 'အို-အလ္လာဟ်အရှင်မြတ်၏ ရစူလ်၊ လောကသားတဦးဦး၏ ရှေ့မှောက်တွင် ကျွန်တော် ယခုကဲ့သို့ ရောက်ရှိနေသော် ကျွန်တော်သည် ဉာဏ်နီဉာဏ်နက်ထုတ်၍ လိမ်လည်လှည့်ဖြားကာဖြင့် မိမိကိုယ်မိမိ လွတ်မြောက်အောင်ကြံဆောင်မည်ကို တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) တွေ့မြင်တော်မူပါမည်၊ သို့သော် ယခုဤနေရာတွင် ကျွန်တော်၏ ပြဿနာသည် အကြင်ကဲ့သို့သော ပုဂ္ဂိုလ်မြတ်တဦး၏ရှေ့မှောက်တွင် ရောက်ရှိနေပါသည်။ အကယ်၍ ကျွန်တော် သည် ထိုပုဂ္ဂိုလ်မြတ်အား လိမ်လည်ကာ ကျေနပ်အောင်ပြုလုပ်နိုင်သည်ပင် ရှိစေကာမူ တခဏအတွင်း၌ အလ္လာဟ်အရှင်မြတ်သည် ထိုပုဂ္ဂိုလ်မြတ်အား အမှန်စကားကို ဝဟီဖြင့် ကြားသိစေတော်မူပြီး ကျွန်ုပ်အပေါ်၌ အမျက်ထွက်အောင် ပြုလုပ်တော်မူမည်သာဖြစ်ပါသည်။ ဖြစ်ရပ်မှန်ကို အမှန်အတိုင်း အစီရင်ခံပါလျှင် ➤➤

➤➤ တမန်တော်မြတ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အမျက်တော်ရှခြင်းကို ခေတ္တခဏခံစားရမည် ဖြစ်သော်လည်း ယင်းသို့ အမှန်အကန် အစီရင်ခံသည့်အတွက် ကျွန်တော်၏နောင်ရေး ကောင်းမြတ်မည်ကို အလ္လာဟ်အရှင်မြတ် အထံတော်မှ မျှော်လင့်ပါသည်။ အမှန်အကန် အစီရင်ခံခြင်းသည်သာလျှင် ကျွန်တော့်အား တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အမျက်တော်မှလည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏ အမျက်တော်မှလည်းကောင်း၊ လွတ်မြောက်စေမည်သာဖြစ်ပါသည်။ 'အိုး-အလ္လာဟ်၏တမန်တော် ဖြစ်ရပ်မှန်မှာ ဤသို့ဖြစ်ပါသည်။ တဗူးက်စစ်ပွဲသို့ မလိုက်ပါနိုင်သည့်အကြောင်း တစုံတရာ ကျွန်တော့်တွင်မရှိပါ၊ တမန်တော်မြတ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့်အတူ ထိုစစ်ပွဲသို့မလိုက်ပါခဲ့သော အချိန်များတွင် ကျွန်တော့်၌ ချောင်လည်မှု၊ စွမ်းဆောင်နိုင်မှု အများဆုံးရှိခဲ့ပါသည်။ ထိုအချိန်ကထက် ပိုမို၍ ချောင်လည်မှု၊ စွမ်းဆောင်နိုင်မှုများကို မည်သည့်အချိန်အခါကမျှ မရရှိခဲ့ပါ၊ ကျွန်တော်သည် အပြစ်ရှိသူ တဦးဖြစ်ကြောင်း ဝန်ခံပါသည်၊ တမန်တော်မြတ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) အလိုတော်ရှိတော်မူသည့်အတိုင်း ကျွန်တော်နှင့်ပတ်သက်၍ စီရင်ဆုံးဖြတ်တော်မူပါ' ဟု ဖြေကြား လျှောက်ထားလိုက်ပါသည်။

ထိုအခါ တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က "အသင်သည် မှန်ကန်သော စကားကို ပြောဆို၏။ အသင်သွားလော့၊ အလ္လာဟ်အရှင်မြတ်၏ အဆုံးအဖြတ်ကိုသာ အသင်စောင့်မျှော်နေလော့" ဟု ပြန်ကြားတော်မူသဖြင့် ကျွန်ုပ်သည် တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတော်ပါးမှ ပြန်လာခဲ့၏။ ထို့နောက် သာဝကကြီး ဟိလာလ် အစ်ဗ်နုအုမိုင်ယဟ်နှင့် သာဝကကြီး မုရာရဟ် အစ်ဗ်နုအလ်ရဗိအ် နှစ်ဦးတို့ သည်လည်း ကျွန်ုပ်ကဲ့သို့ပင် ဖြစ်ကြကြောင်း စုံစမ်းသိရှိရလေသည်။ ကျွန်ုပ်တို့သုံးဦးနှင့် ပတ်သက်၍ တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က မည်သူတဦးတယောက်ကမျှ ကျွန်ုပ်တို့သုံးဦးနှင့် စကားမပြောရ၊ အားလုံးကအဆက်ဖြတ်ထားရမည်' ဟု အမိန့်တော် ထုတ်ပြန်ထားတော်မူလိုက်၏။ ယင်းသို့ အမိန့်ထုတ်ပြန် ထားတော်မူလိုက်သည့် အတွက်ကြောင့် မည်သည့်မွတ်စ်လင်မ် တဦးတယောက်မျှ ကျွန်ုပ်တို့နှင့် စကားမပြောဆိုကြ၊ စလာမ်ပေးလျှင်လည်း စလာမ်မပြန်ကြချေ။ ထိုသို့အားလုံးက ကျွန်ုပ်တို့အား အဆက်ဖြတ်ထားလိုက်ကြသောအခါ ကျွန်ုပ်၏မိတ်ဆွေနှစ်ဦးတို့သည် အပြင်အပသို့ မထွက်တော့ပဲ မိမိတို့၏ အိမ်များမှာပင် နေထိုင်ကြ၊ နေ့ညဉ့်မပြတ် ငိုကြွေးနေကြလေသည်။ ကျွန်ုပ်သည် ငယ်ရွယ်သူတဦးလည်းဖြစ်၊ စိတ်ဓါတ်လည်းခိုင်မာသည့်အတွက် အပြင်သို့ ထွက်သည်။ ဆွလာတ်ဝတ်ပြုရန်အတွက် ဗလီကျောင်းတော်သို့လည်း သွားသည်၊ တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ကို 'စလာမ်' ဆက်သသည်။ တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) စလာမ်ပြန်သည်၊ မပြန်သည်ကို သိရှိရန်အတွက် တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ နှုတ်ခမ်းတော်လှုပ်သည် မလှုပ်သည်ကို ကျွန်ုပ်ကြည့်သည်၊ တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ကျွန်ုပ်ကြည့်လျှင် တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကျွန်ုပ်ဘက်မှ မျက်နှာလွှဲတော်မူလိုက်သည်။ ကျွန်ုပ်နှင့် အလွန်တရာမျှ ခင်မင်ရင်းနှီးသော မိတ်ဆွေရင်းချာများသည်ပင်လျှင် ကျွန်ုပ်အား သူစိမ်းပမာ ခွဲခွာရှောင်ကြဉ် သွားကြကာ အဆက်ဖြတ်ထားကြတော့သည်။

ဤသို့ ကျွန်ုပ်တို့ကို အားလုံးက အဆက်ဖြတ်ထားကြသည့်အချိန်တွင် ဆီရိယနိုင်ငံမှ 'နဗတ်' အမျိုးသားတဦးသည် 'ဃတ်စ်စာန်' ဘုရင်၏စာတစ်စောင်ကို ကျွန်ုပ်အား လာရောက်ပေးလေသည်။ ထိုစာထဲတွင် 'အသင့်အား အသင်၏မိတ်ဆွေက နှိပ်စက်ညှဉ်းပန်းနေကြောင်း ကျွန်ုပ်တို့ကြားသိနေရပေသည်။ အလ္လာဟ် အရှင်မြတ်သည် အသင့်အား ဒုက္ခဖြစ်ရာဌာနတွင် ထားတော်မူသည်မဟုတ်၊ အသင်သည် ကျွန်ုပ်တို့ထံသို့လာခဲ့ပါ၊ ကျွန်ုပ်တို့သည် အသင့်အား ကောင်းစွာပြုစုကြပါမည်' ဟု ရေးသားထားလေသည်။ ကျွန်ုပ်သည် ➤➤

➤➤ ထိုစာကိုဖတ်၍ 'ဤသည်လည်း စမ်းသပ်မှုတစ်ရပ်ဖြစ်သည်' ဟုခံယူမိလိုက်ပါသည်။ ထို့နောက် ကျွန်ုပ်သည် ထိုစာကို မီးရှို့ပစ်လိုက်လေသည်။

ရက်ပေါင်း (၄၀)ပြည့်မြောက်သောနေ့တွင် တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတော်မှ ကျွန်ုပ်အား မိမိ၏ဇနီးနှင့် လွတ်ကင်းစွာနေရန် အမိန့်တော်တရပ် ရောက်ရှိလာပြန်သည်။ ထိုအမိန့်တော်အရ ကျွန်ုပ်သည် မိမိဇနီးအား "မိမိနှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်ထံတော်မှ အဆုံးအဖြတ် တစုံတရာ မရောက်ရှိလာသမျှ ကာလပတ်လုံး အသင်မသည် မိမိ၏ သားချင်းများထံသို့ သွားရောက်နေထိုင်ပါ" ဟု ပြောကြားလိုက်လေသည်။

ဤသည့်အဖြစ်ဆိုးနှင့်ပင် ရက်ပေါင်း(၆၀) ကုန်လွန်ခဲ့ရချေပြီ၊ အလ္လာဟ်အရှင်မြတ်၏ ပထဝီ မြေကြီးသည် ကျယ်ဝန်းပါလျက် ကျွန်ုပ်အဖို့ ကျဉ်း၍နေရချေပြီ၊ အသက်ရှုကျပ်ရချေပြီ။ အသက်ရှင်နေရခြင်းသည် သေဆုံးရခြင်းထက်ပင် ဆိုးရွားလျက်ရှိနေချိန်တွင် 'စလ်အ်' တောင်ထိပ်မှ 'အို-ကအ်ဗ် အစ်ဗ်နုမာလစ်က်၊ အသင်ဝမ်းသာလေလော့' ဟူသော ကြွေးကြော်သံကို ကြားလိုက်ရပါသည်။ ယင်းသို့ မင်္ဂလာစကားကို ကြားကြားချင်းပင် ကျွန်ုပ်သည် စဂျ်ဒဟ် ဦးချလိုက်ပါသည်။ ထို့နောက် "လွန်ခဲ့သည့် ညဥ့်၏နောက်ဆုံးယံတွင် ဝန်ချတောင်းပန်ခြင်းကို လက်ခံတော်မူလိုက်ပြီး ဖြစ်ကြောင်း၊ အလ္လာဟ်အရှင်မြတ်ထံတော်မှ တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတော်သို့ ဝဟီကျရောက်သည်" ဟု သိရှိရလေသည်။

တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဖဂျ်ရ်ဆွလာတ် ဝတ်ပြုပြီးနောက် ဤသည့် အကြောင်းကို သာဝကကြီးများအား ပြောကြားတော်မူလိုက်လေရာ၊ မွတ်စ်လင်မ်များသည် ကျွန်ုပ်ထံသို့လည်းကောင်း၊ ကျွန်ုပ်၏ မိတ်ဆွေနှစ်ဦးထံသို့လည်းကောင်း ရောက်လာကြလေတော့သည်။ ကျွန်ုပ်ထံသို့ လာရောက်ကြသော ပုဂ္ဂိုလ်များအနက် တဦးသည် အစီးအနင်းဖြင့်လာနေ၏။ အခြားတဦးသည် 'စလ်အ်' တောင်ထိပ်သို့ပြေးတက်ပြီး တောင်ထိပ်မှ ကြွေးကြော်၍ ကောင်းချီးသတင်း ပြောကြားလေသည်။ သို့ကြွေးကြော် ပြောဆိုသော ပုဂ္ဂိုလ်၏ အသံသည် အစီးအနင်းဖြင့်လာနေသူ မရောက်မီအလျင်ပင် ရောက်ရှိလာလေတော့သည်။ ကျွန်ုပ်သည် ဟစ်အော် ကောင်းချီးသတင်းပေးသူအား ကျေးဇူးတင်လှသည့်အတွက် မိမိ၏အဝတ်များကို ချွတ်၍ပေးလိုက်လေသည်။

ထို့နောက် ကျွန်ုပ်သည် တမန်တော်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံသို့ သွားရောက်လေသည်။ မွတ်စ်လင်မ်များသည် လမ်းတွင် အစုလိုက်အစုလိုက် လာရောက်၍ ကျွန်ုပ်အား ကောင်းချီးသြဘာပေးကြလေသည်။ နောက်ဆုံးတွင် ကျွန်ုပ်ဗလီကျောင်းတော်သို့ ရောက်ရှိသွားလေသည်။ တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဗလီကျောင်းတော်တွင် ထိုင်လျက်ရှိတော်မူ၏။ သာဝကကြီးများသည်လည်း တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အပါးတော်တွင် ဝန်းရံထိုင်လျက်ရှိကြ၏။ ထိုအချိန်တွင် မုဟာဂျိရီန် သာဝကကြီးများအနက် သာဝကကြီး တွာလ်ဟဟ်သည် မတ်တတ်ရပ်၍ ကျွန်ုပ်အား နှုတ်ဆက်လေသည်။

တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ မျက်နှာတော်သည် ဝမ်းသာတော်မူလှသည့် အတွက် လပြည့်ဝန်းပမာ ကြည်လင်တောက်ပလျက်ရှိချေသည်။ တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က 'အသင်ဝမ်းသာလေလော့၊ အသင့်အား အသင့်မိခင်မွေးဖွားသောနေ့မှစ၍ အသင့်သက်တမ်းတွင် ဤနေ့သည် အကောင်းဆုံးနေ့ပင်ဖြစ်သည်' ဟု မိန့်ကြားတော်မူ၏။ ကျွန်ုပ်က 'အို-အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော် ဤသည်ကိုယ်တော့်ထံမှလော၊ သို့မဟုတ် အလ္လာဟ်အရှင်မြတ် ထံတော်မှလော' ဟု မေးမြန်းရာ တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က 'ဤသည် အလ္လာဟ်အရှင်မြတ်၏ထံတော်မှ ဖြစ်သည်' ဟု ဖြေကြားတော်မူလေသည်။



➤➤ ထို့နောက် ကျွန်ုပ်သည် နဗီတမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား 'ကျွန်တော်၏ ဝန်ချတောင်းပန်မှုကို လက်ခံတော်မူသည့်အတွက် ကျေးဇူးဆပ်သည့်အနေဖြင့် ကျွန်တော်၏ ဥစ္စာပစ္စည်းအားလုံးကို အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ လှူဒါန်းလိုပါသည်' ဟု လျှောက်ထားရာ တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က 'အသင်သည် မိမိပစ္စည်းများအနက် မိမိအဖို့ အချို့အဝက်ကို ချန်ထားလော့၊ ဤသည် အသင့်အဖို့ကောင်းသည်' ဟု မိန့်ကြားတော်မူလေသည်။ ထိုအခါ ကျွန်ုပ်သည် ခိုင်ဗရ်တွင်ရှိနေသော မိမိ၏ပစ္စည်းကို ချန်လှပ်၍ ကျန်ပစ္စည်းအားလုံးကို လှူဒါန်းလိုက်လေသည်။ ထို့နောက် ကျွန်ုပ်က 'အို-အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်၊ အလ္လာဟ်အရှင်မြတ်သည် ကျွန်တော့်အား အမှန်ပြောဆိုခြင်းကြောင့်သာ လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူခြင်းဖြစ်ရာ ကျွန်တော်သည် နောက်နောင် မိမိအသက်ထက်ဆုံး အဘယ်သို့ပင် ဖြစ်ရလင့်ကစား အမှန်ကိုသာလျှင် ပြောဆိုပါမည်ဟု ဝန်ခံကတိပြု လျှောက်ထားလေသည်။ ဤသို့ ကတိပြုပြီးသည့်နောက်ပိုင်းတွင် ကျွန်ုပ်သည် အလွန်ကြီးလေးလှသော စမ်းသပ်မှုများနှင့် ရင်ဆိုင်ခဲ့ရပါသော်လည်း၊ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် အမှန်ကိုသာလျှင် ပြောဆိုခဲ့လေသည်။ အမှန်ကိုသာ ပြောဆိုမည့်အကြောင်း တမန်တော်မြတ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ထံတွင် ဝန်ခံကတိပြုပြီးသည့်နေ့မှစ၍ ယနေ့တိုင်အမှန်ကိုသာ ပြောဆိုခဲ့ပါသည်။ သေဆုံးသည့်တိုင်အောင် အမှန်ကိုသာ ပြောဆိုပါမည်။

ဤသည် သာဝကကြီး ကအ်ဗ် အစ်ဗ်နုမာလစ်က်၏ အမှန်အတိုင်း ဝန်ခံပြောဆို ဝန်ချတောင်းပန်ခြင်း အကြောင်းနှင့်စပ်လျဉ်း၍ ထိုသာဝကကြီး ကိုယ်တိုင် ထုတ်ဖော်ပြောဆိုခဲ့သည့် အကြောင်း အကျဉ်းတည်း။ ကုရ်အာန်ကျမ်းမြတ်(၉း၁၁၈)တွင် ဤသာဝကကြီး သုံးပါးတို့၏ ဖြစ်ထွေများကို ရည်ညွှန်းမိန့်ဆိုထား တော်မူခြင်းပင်ဖြစ်သည်။

**မှတ်သားဖွယ်။**

အထက်ဖော်ပြပါ သာဝကကြီးသုံးပါးအနက် သာဝကကြီး မုရာရဟ် အစ်ဗ်နုအည်ရဗီအ်နှင့် သာဝကကြီး ဟိလာလ် အစ်ဗ်နုအုမိုင်ယတ် နှစ်ပါးတို့သည် "ဗဒ်ရ်" စစ်ပွဲတွင် ပါဝင်ဆင်နွှဲခဲ့ကြသော သာဝကကြီးများဖြစ်သည်။ 'ဗဒ်ရ်' စစ်ပွဲတွင် ပါဝင်ဆင်နွှဲခဲ့ကြသော 'ဗဒ်ရီ' သာဝကကြီးများ၏ ဂုဏ်အင်ဒြပ်ကား ကြီးမားမြင့်မြတ်လှ၏။ အထူးထုတ်ဖော်ရေးသားရန်ပင် မလိုပေ။ ထိုသာဝကကြီးသုံးပါးအနက် တတိယသာဝကကြီး ကအ်ဗ် အစ်ဗ်နု မာလစ်က်မှာလည်း 'ဗဒ်ရ်' စစ်ပွဲမှအပ ကျန်စစ်ပွဲအားလုံး၌ပင် ပါဝင်ဆင်နွှဲခဲ့သော သာဝကကြီး ဖြစ်ပေသည်။ ဤကဲ့သို့ ထူးကဲမြင့်မြတ်လှသည့် သာဝကကြီးများကိုပင်လျှင် အစ္စလာမ်သာသနာသည် အပြစ်ရှိက အပြစ်ရှိသကဲ့သို့ အရေးယူခဲ့ပေသည်။ ဤကား အစ္စလာမ်၏ သွန်သင်ဆုံးမ ပုံပြင်မှုပင်တည်း။ ဤအချက်ကို ထောက်ရှု၍ 'ဖုကဟာ' ဓမ္မသတ်သျှင်များက 'သာသနာရေး၌ အပြစ်ရှိသူတဦးအား စလာမ်မပေးဘဲနေခြင်း၊ စလာမ်မယူခြင်း၊ စကားမပြောခြင်း၊ ပြုပိုင်သည်။ (ဝါ) အဆက်ဖြတ်ပိုင်သည်' ဟု အဆုံးအဖြတ်ပေးကြလေသည်။

(ကြည့်-မာဂျိဒီ၊ အစောင်-၂၊ စာမျက်နှာ-၄၂၈၊ အောက်ခြေအမှတ်-၂၂၁။)

**ဓမ္မသတ်။**

အကြင်သူတဦးသည် ရှရီအတ်နှင့်ဆန့်ကျင်သော အမှု တစုံတရာပြုအံ့၊ ထိုသို့သောသူအား အပြစ်ပေးသည့်အနေဖြင့် ထိုသူနှင့်စကားမပြောဘဲနေခြင်း၊ ထိုသူ့အား စလာမ်မပေးခြင်းသည် ပြုပိုင်၏။ ဟဒီးဆ်တော်များ၌ 'သုံးရက်ထက်ပို၍ အချင်းချင်း စကားမပြောဘဲ မနေရ' ဟူသော ပညတ်တော်လာရှိ၏။ ထိုပညတ်တော်၏အလိုသဘောမှာ 'လောကီရေး ကိစ္စတခုခုကြောင့် စိတ်ငြိုငြင်ရလျှင်လည်း အချင်းချင်း သုံးရက်ထက် ပို၍ စကားမပြောဘဲမနေရ' ဟူ၏။ (ထာနဝီ၊ အစောင်-၄၊ စာမျက်နှာ-၁၄၉။)

يَاَيُّهَا الَّذِيْنَ اٰمَنُوا اتَّقُوا اللّٰهَ وَكُوْنُوْا مَعَ الصّٰدِقِيْنَ ﴿١١٩﴾

၁၁၉။ အို-"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်၊ ထို့ပြင် အသင်တို့သည် သစ္စာဝါဒီတို့နှင့်အတူ ရှိကြလေကုန်။ (သစ္စာဝါဒီနှင့် အတူ နေထိုင်ကြလေကုန်။) ၁

---

(၁) "ဆွာဒီကီးန" ဟူသည် သာသနာ့အရေးများတွင် ကာယကံအားဖြင့် လည်းကောင်း၊ ဝစီကံအားဖြင့် လည်းကောင်း၊ မနောကံအားဖြင့် လည်းကောင်း၊ မှန်ကန်သော သစ္စာဝါဒီများတည်း။ (မဒါရစ်က်။)

ဤအာယတ်တော်တွင် "တာက္ကဝါ" တရားထားရှိ၍ သစ္စာဝါဒီများ၏ လမ်းစဉ်ကို လိုက်ကြရမည့်အကြောင်း၊ သစ္စာဝါဒီများကဲ့သို့ အမြဲတစေ အမှန်ကိုသာ တွေးတောပြောဆို ပြုလုပ်ရကြမည့်အကြောင်း မိန့်တော်မူထားပေသည်။

'ဖုကဟာ' ဓမ္မသတ်ရှင်များက "အစ်ဂ္ဂျမာအ်အွန်မ္မတ်" မွတ်စ်လင်မ်များ၏ တညီတညွတ်တည်းသော အဆုံးအဖြတ်သည် "ရှရီအတ်" တရားဥပဒေဝင် သာဓကတရပ်ဖြစ်ရာ၌ ဤသည့် အာယတ်တော်သည်လည်း သာဓကတရပ်ဖြစ်သည်" ဟု ဆိုကြလေသည်။

**<u>သစ္စာ၏အကျိုး၊ မုသား၏အပြစ်။</u>**

"အသင်တို့သည် အမှန်ပြောဆိုခြင်းကိုသာ လက်ဆုပ်လက်ကိုင် ပြုထားကြကုန်၊ အမှန်ပြောဆိုခြင်းသည် ကောင်းမွန်မြင့်မြတ်ရာသို့ ပို့ဆောင်၏။ ကောင်းမွန်မြင့်မြတ်သော အရာသည် 'ဂျန္နတ်' သို့ပို့ဆောင်၏။ လူတဦးသည် အမြဲတစေ အမှန်ကိုသာ ပြောဆို၍ အမှန်အတိုင်းသာ ပြုလုပ်ရန်ရှာဖွေဆည်းပူးသော်၊ ထိုသို့သော သူသည် နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်၏ အထံတော်၌ 'ဆွစ်ဒ်ဒီးက်' သစ္စာဝါဒီဟု ရေးမှတ်တော်မူခြင်း ခံရ၏။

ထို့မှတပါး အသင်တို့သည် မုသားပြောဆိုခြင်းကို ရှောင်ကြဉ်ကြကုန်၊ မုသားပြောဆိုခြင်းသည် ယုတ်မာဆိုးသွမ်းသော အရာသို့ပို့ဆောင်၏။ ယုတ်မာဆိုးသွမ်း သော အရာသည် 'ဂျဟန္နမ်' ငရဲသို့ ပို့ဆောင်၏။ လူတဦးတယောက်သည် အမြဲတစေ မုသား ပြောဆိုပြုလုပ်ရန် ရှာဖွေဆည်းပူးနေသော် ထိုသူသည် နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်အထံတော်၌ 'ကဇ္ဇားဗ်' 'မုသာဝါဒီ' ဟုရေးမှတ်တော်မူခြင်းခံရမည်" ဟု တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က မိန့်ကြားတော်မူသည်။ ဤသည့် ဟဒီးဆ်တော်သည် ဗုခါရီ၊ မွတ်စ်လင်မ်ကျမ်းများတွင်လည်း ပါရှိသည်။ (အစ်ဗ်နုကဆီရ်၊ အစောင်-၂၊ စ-၃၉၉။)

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဩဝါဒတော်ကား မှန်ကန်လှ၏။ ကုရ်အာန်ကျမ်းမြတ် (၉း၁၁၈)တွင် ပါရှိသော သာဝကကြီးသုံးပါးတို့သည် "တာက္ကဝါ" တရားရှေ့ထား၍ အမှန်အကန် အစီရင်ခံခဲ့ကြသည့်အတွက် အလ္လာဟ်အရှင်မြတ်၏ နှစ်မြို့တော်မူခြင်းကို ခံခဲ့ကြရ၏။ "ဂျန္နတ်" တွင် စံမြန်းကြရမည်ဖြစ်၏။ မုနာဖစ်က်များကား အလ္လာဟ်အရှင်မြတ်အား မကြောက်ရွံ့ခဲ့ကြ၊ မုသားလိမ်လည် ပြောဆိုခဲ့ကြ၏။ ထို့အတွက် "ဂျဟန္နမ်" ငရဲသို့ လားကြရမည်ဖြစ်၏။ ဤကား အမှန်ပြောဆိုခြင်း၏ အကျိုးနှင့် လိမ်လည်ပြောဆိုခြင်း၏ အပြစ်ပင်တည်း။

مَا كَانَ لِأَهْلِ الْمَدِينَةِ وَمَنْ حَوْلَهُم مِّنَ الْأَعْرَابِ أَن يَتَخَلَّفُوا عَن رَّسُولِ اللَّهِ وَلَا يَرْغَبُوا بِأَنفُسِهِمْ

၁၂၀။ 'မဒီနာ' မြို့သားတို့အဖို့လည်းကောင်း၊ ထိုသူတို့၏ ပတ်ဝန်းကျင်၌ရှိကြသော အရပ်ကျေးတောသားတို့အဖို့လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အား စွန့်၍ နောက်ကျန်ရစ်ခဲ့ကြရန် မသင့်လျော်ခဲ့ချေ။ ထို့ပြင် ၎င်းတို့သည် မိမိတို့၏ အသက်ဇီဝိန်များကို ထိုရစူလ်တမန်တော်မြတ်၏ အသက်ဇီဝိန်ထက် ပိုမို၍ နှစ်သက်ကြရန်လည်း မထိုက်ပေ။ [၁]

---

(၁) မဒီနာမြို့သားများနှင့် ပတ်ဝန်းကျင်ရှိ အရပ်ကျေးတောသားများသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား စွန့်၍ နောက်ချန်မနေသင့်ကြပေ။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အသက်ထက် မိမိတို့၏ အသက်များကိုလည်း ပို၍ မနှစ်သက်သင့်ကြပေ။

ဆိုလိုသည်ကား တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ကိုယ်တော်တိုင်သည်ပင်လျှင် ပင်ပန်းကြီးစွာဖြင့် စစ်မြေပြင်သို့ ချီတက် ကြွသွားနေတော်မူပေရာ ကျွန်ုပ်တို့အဖို့ စည်းစိမ်များနှင့် အေးဆေးစွာ နေထိုင်ကြရန် အလျင်းမပြုသင့်ပေ။

သာဝကကြီး အဗူခိုင်ဆမဟ်သည် "တဗူးက်" စစ်ပွဲသို့ ချီတက်လိုက်ပါရာတွင် နောက်ကျနေခဲ့၏။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) စစ်ပွဲသို့ ချီတက်ကြွတော်မူပြီးနောက် သာဝကကြီး အဗူခိုင်ဆမဟ်သည် မိမိ၏ဥယျာဉ်သို့ ရောက်သွား၏။ အဆိုပါသာဝကကြီး၌ ရုပ်ရည်ချောမောလှပသော ဇနီးလည်းရှိ၏။ ထိုဇနီးသည် သာဝကကြီးအတွက် အရိပ်အာဝါသအောက်တွင် နေရာပြင်ဆင်ကာ ဖျာခင်းထား၏။ မှည့်နေသော စွန်ပလွံသီးနှင့် အေးမြသောရေများကို တိုက်ကျွေးရန်တည်ခင်းထား၏။

သာဝကကြီးသည် ဤသည့်စည်းစိမ်များကို ကြည့်ပြီး 'ဩော်-အရိပ်အာဝါသကား ကောင်းလှ၏။ စွန်ပလွံသီးက မှည့်လှ၏၊ ရေကားအေးမြလှ၏၊ ဇနီးမိန်းမကား ချောလှ၏၊ သို့ရာတွင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည်ကား နေပူရှိန်နှင့် လေပူများတွင် ပင်ပန်းကြီးစွာဖြင့် ခရီးသွားလျက်ရှိနေတော်မူ၏။ ဤကား အလျင်းမသင့်' ဟုဆိုပြီးနောက် ရုတ်တရက် ချက်ချင်းပင်ထ၍ အစီးအနင်းကို အသင့်ပြင်၏။ ဓားနှင့်မြားကိုလွယ်၏၊ ထို့နောက် လေအလျင်ပမာ စိုင်း၍ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ရှိရာသို့ မောင်းနှင်လိုက်ပါလာခဲ့၏။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် တံလျှပ်ကြားမှ အစီးအနင်းဖြင့် ထွက်ပေါ်လာသူ တဦးအား အဝေးမှ မြင်တော်မူသည့်အခါ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)က "ဤသူကား အဗူခိုင်ဆမဟ် ဖြစ်ပါစေ"ဟု မိန့်တော် မူလိုက်လေသည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) တွေးထင်တော် မူသည့်အတိုင်း ထိုပုဂ္ဂိုလ်ကား သာဝကကြီး အဗူခိုင်ဆမဟ်ပင် ဖြစ်နေပေသည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် ယင်းကဲ့သို့ သာဝကကြီး အဗူခိုင်ဆမဟ် လိုက်ပါလာခဲ့သည့်အတွက် အထူးဝမ်းသာတော်မူ၏။ သာဝကကြီး အဗူခိုင်ဆမဟ် အဖို့လည်း ဆုပန်ကြားပေးတော်မူ၏။

عَنْ نَّفْسِهٖ ۭ ذٰلِكَ بِاَنَّهُمْ لَا يُصِيْبُهُمْ ظَمَاٌ وَّلَا نَصَبٌ وَّلَا مَخْمَصَةٌ فِيْ سَبِيْلِ اللّٰهِ وَلَا يَطَــــُٔـــوْنَ مَوْطِئًا يَّغِيْظُ الْكُفَّارَ وَلَا يَنَالُوْنَ مِنْ عَدُوٍّ نَّيْلًا اِلَّا كُتِبَ لَهُمْ بِهٖ عَمَلٌ صَالِحٌ ۭ اِنَّ اللّٰهَ لَا يُضِيْعُ اَجْرَ الْمُحْسِنِيْنَ ١٢٠

ဤ(ကဲ့သို့ နောက်ချန်ရစ်ခဲ့ခြင်း မပြုဘဲ ရစူလ်တမန်တော်မြတ်နှင့် အတူလိုက်ကြရန် အမိန့်ပြဋ္ဌာန်းတော်မူခြင်း၏) အကြောင်းကား ထိုသူတို့၌ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်တွင် မည်သည့် ရေမွတ်သိပ်ခြင်းမဆို ဆိုက်ရောက်ခဲ့သည်ရှိသော်၊ ထိုမှတပါး မည်သည့်ပင်ပန်းခြင်းမဆို ဆိုက်ရောက်ခဲ့သည်ရှိသော်၊ ထိုမှတပါး မည်သည့်ဆာလောင်ခြင်းမဆို ဆိုက်ရောက်ခဲ့သည်ရှိသော်၊ ထိုမှတပါး ၎င်းတို့သည် 'ကာဖိရ်' သွေဖည်ငြင်းပယ်သော သူတို့အား အမျက်ဒေါသ ထွက်စေသည့် မည်သည့် သွားလာမှုကိုမဆို သွားလာကြသည်ရှိသော်၊ ထို့ပြင် ၎င်းတို့သည် ရန်သူတဦးဦးထံမှ (ရန်သူ၏ တပ်လန်ခြင်းကိုသော်လည်းကောင်း၊ ထိုသူတို့ထံမှ လက်ရ *ပစ္စည်းကိုသော်လည်းကောင်း၊ ဒဏ်ရာဒဏ်ချက်ကို သော်လည်းကောင်း၊ ဖမ်းဆီးခြင်းခံရခြင်းကို သော်လည်းကောင်း၊* [၁] ရရှိ(ခံစား) ခဲ့ကြရသည်ရှိသော် ၎င်းတို့အဖို့ခံစားကြရသော ထိုအချက်အသီးသီးနှင့်စပ်လျဉ်း၍ ကောင်းမြတ်သောအပြုအမူတရပ်သည် ရေးသားခြင်း ခံခဲ့ကြရသည်ချည်းသာတည်း။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အကျင့်သီလ ကောင်းမြတ်သောသူတို့၏ အကျိုးကို အချည်းနှီးဖြစ်စေတော်မူသည် မဟုတ်ချေ။

---

(၁) ရန်သူများထံမှရရှိသော အရာသည် နှစ်မျိုးနှစ်စားဖြစ်နိုင်သည်။

(၁) သုံ့ပန်းနှင့်ရန်သူ၏ စစ်ရေးရှုံးနိမ့်ခြင်း။

(၂) ဒဏ်ရာဒဏ်ချက်ရခြင်း၊ အသတ်ခံရခြင်း၊ အဖမ်းခံရခြင်း။

မုဖတ်စ်စစ်ရ်ပညာရှင် သုခမိန်များသည် အထက်ဖော်ပြပါအဆို နှစ်ရပ်လုံးကို ဖွင့်ဆိုရေးသားခဲ့ကြပေသည်။

وَلَا يُنْفِقُوْنَ نَفَقَةً صَغِيْرَةً وَّلَا كَبِيْرَةً وَّلَا يَقْطَعُوْنَ وَادِيًا اِلَّا كُتِبَ لَهُمْ لِيَجْزِيَهُمُ اللّٰهُ اَحْسَنَ مَا كَانُوْا يَعْمَلُوْنَ ﴿١٢١﴾

၁၂၁။ ၎င်းအပြင် ထိုသူတို့သည် အသေးအဖွဲ သုံးစွဲခြင်းကိုလည်းကောင်း၊ အကြီးအကျယ် သုံးစွဲခြင်းကိုလည်းကောင်း၊ သုံးစွဲကြသည်ရှိသော်၊ ထို့အတူ ထိုသူတို့သည် မည်သည့်တောင်ကြားအရပ် တရပ်ရပ်ကိုမဆို ဖြတ်ကျော်ကြသည်ရှိသော်၊ ထိုသူတို့အဖို့ ရေးသားထားရှိပြီး ဖြစ်ခဲ့သည်သာတည်း။ (ယင်းကဲ့သို့ ရေးသား၍ထားရှိခြင်းမှာ) အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့အား ထိုသူတို့၏ အပြုအမူများနှင့် စပ်လျဉ်း၍ အကောင်းဆုံးသော အကျိုးကျေးဇူးတော်ကို ချီးမြှင့်ပေးသနားတော်မူခြင်းငှာ ဖြစ်ချေသည်။

وَمَا كَانَ الْمُؤْمِنُوْنَ لِيَنْفِرُوْا كَآفَّةً فَلَوْلَا نَفَرَ مِنْ كُلِّ فِرْقَةٍ مِّنْهُمْ طَآئِفَةٌ لِّيَتَفَقَّهُوْا فِى الدِّيْنِ وَلِيُنْذِرُوْا قَوْمَهُمْ اِذَا رَجَعُوْٓا اِلَيْهِمْ لَعَلَّهُمْ يَحْذَرُوْنَ ﴿١٢٢﴾

၁၂၂။ စင်စစ်သော်ကား'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့သည် တယောက်မကျန် (စစ်တလင်းသို့) ထွက်ကြရန်(လည်း) မထိုက်ချေ။ သို့ဖြစ်ပေရာ ၎င်းတို့အနက်အုပ်စုတိုင်းမှလူတစုသည်သာလျှင် (စစ်တလင်းသို့ အဘယ့်ကြောင့် မထွက်သနည်း) ထွက်ကြရပေမည်။ သို့မှသာလျှင် (ကျန်လူတို့မှာ) 'ဒီန်' သာသနာနှင့်စပ်လျဉ်း၍ (အသိပညာများကို) သင်ယူဆည်းပူးနိုင်ကြပေမည်။ ထို့ပြင် ၎င်းတို့သည် မိမိတို့၏ အမျိုးသားတို့အား(စစ်တလင်းမှ) မိမိတို့ထံ ပြန်လည်ရောက်ရှိလာခဲ့ကြသောအခါ (အလ္လာဟ်အရှင်မြတ်၏အမိန့်ပညတ်တော်များကို ဟောကြားခြင်းအားဖြင့်) သတိပေး နှိုးဆော်နိုင် ကြပေမည်။ သို့မှသာလျှင် ထိုအမျိုးသားတို့သည် (ပြစ်မှုဒုစရိုက်တို့မှ) ရှောင်ရှား တန်ကြရာကုန်သတည်း။ ၁

(၁) (က) ဤအာယတ်တော်နှင့်စပ်လျဉ်း၍ မောင်လာနာထာနဝီသခင်၏ဘာသာပြန်မှာ အောက်ပါအတိုင်းဖြစ်သည်။

**ဘာသာပြန်**

၎င်းပြင် မုအ်မင်န်များသည် (ဂျိဟာဒ်ပြုလုပ်ရန်အတွက် စစ်မြေပြင်သို့) အားလုံး တယောက်မကျန်) ထွက်ကြရန်(လည်းအမြဲတစေ)မသင့်ပေ။ (ဤသို့ပြုလုပ်ပါက တစ်ခါတစ်ရံ မွတ်စ်လင်မ်များအတွက် ➤➤

➤➤ နစ်နာဆုံးရှုံးမှုများ ဖြစ်ပေါ်လာနိုင်သည်။) သို့ဖြစ်ပေရာ ထိုမှအမ်မင်န်တို့၏ အုပ်စုကြီးတိုင်းမှ အုပ်စုငယ်တခုစီ အဘယ်ကြောင့် (ဂျိဟာဒ်ပြုလုပ်ရန်) မထွက်ဘဲနေသနည်း။ ထွက်သင့်ပေသည်။ (အချို့မွတ်စ်လင်မ်များမှာမူ မြို့ရွာ၌ နေရစ်ခဲ့ကြရမည်။)

သို့မှသာလျှင် ကျန်ရစ်ခဲ့သော မွတ်စ်လင်မ်များသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) လက်ထက်တော်တွင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံမှလည်းကောင်း၊ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နောက် မြို့ရွာရှိ အာလင်မ်များထံမှလည်းကောင်း၊ သာသနာရေးဆိုင်ရာ အသိပညာများကို ဆည်းပူးနိုင်ကြပေမည်။ ၎င်းနောက် ဤသူများသည် (စစ်မြေပြင်သို့ ဂျိဟာဒ်ပြုရန်သွားကြသော) မိမိတို့၏အမျိုးသားများအား ထိုအမျိုးသားများ ၎င်းတို့ထံသို့ ပြန်လည်ရောက်ရှိလာကြသောအခါ (သာသနာရေး ဆိုင်ရာ အသိပညာများပေး၍ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို မနာခံခြင်းမှ) သတိပေး နှိုးဆော်ကြပေမည်။ သို့မှသာလျှင် ထိုအမျိုးသားများသည် (၎င်းတို့ထံမှ သာသနာရေးဆိုင်ရာ အမိန့်ပညတ်တော် များကို ကြားနာရကာ မကောင်းမှုများမှ) ရှောင်ကြဉ်ကြပေမည်။

**အဖွင့်။**

မြို့ရွာတွင် မွတ်စ်လင်မ်များ ကျန်ရှိနေခြင်းဖြင့် အကျိုးကျေးဇူး အများအပြား ရှိပေသည်။ ယင်း အကျိုးများအနက် ဤအာယတ်တော်တွင် သာသနာရေးနှင့်သက်ဆိုင်သော ကြီးမားသော အကျိုးတရပ်ကို ထုတ်ဖော် မိန့်ဆိုထားတော်မူသည်။ ထို့ပြင်တဝ ယင်းသို့ မြို့ရွာများတွင် အချို့မွတ်စ်လင်မ်များ ကျန်ရှိနေခြင်းအားဖြင့် လောကီရေးဆိုင်ရာ အကျိုးအများအပြားပင် ရှိတတ်ကြောင်း အထင်အရှားဖြစ်၍ ထုတ်ဖော်ရေးသားရန်ပင်မလိုပေ။ ဥပမာ-ဂျိဟာဒ်အတွက် မွတ်စ်လင်မ်အားလုံး တယောက်မကျန် စစ်မြေပြင်သို့ ချီတက်သွားကြလျှင် 'ဒါရုလ် အစ္စလာမ်' အစ္စလာမ်နိုင်ငံတော်သည်ပင်လျှင် မွတ်စ်လင်မ်တို့၏ လက်တွင်းမှ ထွက်သွားနိုင်ပေသည်။

ထို့ပြင်တဝ သာသနာရေးပညာ ဆည်းပူးမှုကို မြို့ရွာများတွင် ကျန်ရှိနေသော မွတ်စ်လင်မ်များအတွက် သီးသန့် ပြုလုပ်ထားတော်မူခြင်းမှာ များသောအားဖြင့် ပညာဆည်းပူးမှုသည် မြို့ရွာများတွင် နေထိုင်သည့်အခါ၌သာ ဖြစ်နိုင်လေ့ရှိခြင်းကြောင့်ပင်ဖြစ်သည်။ (ထာနဝီ အစောင်-၄၊ စာမျက်နှာ-၁၅၁။)

(ခ) ဤအာယတ်တော်နှင့်စပ်လျဉ်း၍ 'တဖ်စီရ်မာဂျိဒီ'တွင် အောက်ပါအတိုင်း ဖွင့်ဆိုရေးသားထားသည်။

"တဗူးက်" စစ်ပွဲသည် အခြားစစ်ပွဲများနှင့်မတူ တမူထူးခြား၏။ (ထို့အတွက်ကြောင့်လည်း တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မွတ်စ်လင်မ်အားလုံးတို့အား စစ်ချီထွက်ရန် အမိန့်ထုတ်ပြန် တော်မူခဲ့သည်။) ထိုစစ်ပွဲပြီးဆုံးသွားပြီးနောက် နောက်နောင်အတွက် အမြဲတစေ လိုက်နာကျင့်သုံးရန် သီးသန့်အမိန့် ထုတ်ပြန်တော်မူလိုက်လေသည်။ ထိုအမိန့်အရ မွတ်စ်လင်မ်အားလုံးတို့သည် မိမိတို့၏မြို့ရွာများကို လုံးဝ စွန့်ခွာ၍ စစ်မြေပြင်သို့ ထွက်ကြရန် မလိုသော်လည်း အေမာမ်ရှေ့ဆောင် အကြီးအကဲက မွတ်စ်လင်မ်အားလုံးတို့အား တယောက်မကျန် စစ်ချီထွက်ရန် အမိန့်ထုတ်ပြန်ခဲ့သည်ရှိသော် ဂျိဟာဒ်ပြုလုပ်ခြင်းသည် မွတ်စ်လင်မ်တိုင်းအပေါ်၌ 'ဖရ်ည်အိုင်န်' ဖြစ်သွားပေသည်။

မောင်လာနာထာနဝီသခင်က "သာသနာ့အရေးတော်များကို စီမံခန့်ခွဲ ဖြေရှင်းရာ၌ နေထိုင်စားသောက်မှု စသည့် အခြားအရေးကြီးသော ကိစ္စများ မပျက်ပြားစေဘဲ စီမံခန့်ခွဲသင့်သည်" ဟု ဖွင့်ဆိုရေးသားထားသည်။

ဤအာယတ်တော်တွင်ပါရှိသော 'ဖစ်ရ်ကတွန်' ဟူသောပုဒ်သည် လူအများအပြား ပါဝင်သော အုပ်စုကြီးများကို ဆိုလိုသည်။ 'တွာအေ့ဖတွန်' ဟူသောပုဒ်သည် လူအနည်းငယ်ပါဝင်သော အုပ်စုလေးကိုဆိုသည်။

ဤ အာယတ်တော်၏ အလိုသဘောမှာ - ဂျိဟာဒ် ပြုလုပ်ရာ၌ မြို့ရွာရှိ လူများအနက် ➤➤

➢➢ အုပ်စုတစုသည် စစ်မှုရေးရာကိစ္စများ ဆောင်ရွက်ရန်အတွက် အသင့်ရှိနေရမည်။ အခြားအုပ်စုတစုသည် မြို့ပြရေးရာကိစ္စများ ဆောင်ရွက်ရန်အတွက် တိုင်းပြည်နှင့်မြို့ရွာများတွင်သာ ရှိနေကြရမည်ဟူ၍ ဖြစ်သည်။

ဖုကဟာ ဓမ္မသတ်ရှင်များက ရေးသားထားသည်မှာ "အစ္စလာမ်နိုင်ငံတော်တွင် အမျိုးမျိုးသော ပစ္စည်းများ အသင့်ရှိရမည်။ အရေးကြီးသောကိစ္စအဝဝကို ဆောင်ရွက်နိုင်ရန်အတွက် လူအမျိုးမျိုးလည်း အသင့်ရှိရမည်၊ သို့ကမှသာ တိုင်းပြည် စည်ပင်သာယာဝပြောရေး၊ လူထုကျန်းမာရေး၊ တိုင်းပြည် စီမံခန့်ခွဲ အုပ်ချုပ်ရေးတို့တွင် ပီပြင်ပေမည်။ သို့မှသာ အစ္စလာမ့်ဂုဏ်သိန်တွင် တစွန်းတစမျှပင် ချို့တည့်မှုရှိမည် မဟုတ်ပေ။ စစ်သည်များ၊ စာရေးဆရာများ၊ စက်မှုလက်မှုဆိုင်ရာပညာရှင်များ၊ ကုန်သည်များ၊ တောင်သူ လယ်သမားများ၊ . . . စသည့်လူတန်းစား အသီးသီးတို့သည် အစ္စလာမ်နိုင်ငံတော်တွင် မရှိလျှင်မဖြစ်သော လူတန်းစားများပင်။

မုဖတ်စ်စစ်ရ် ဓမ္မသတ်ရှင်များက ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် "သာသနာရေးပညာ ဆည်းပူးသင်ကြား လေ့လာခြင်းသည် "ဝါဂျိစ်ဗ်" တာဝန်ဖြစ်သည်" ဟု ရေးသားကြသည်။

"အစ္စလာမ် သာသနာရေးပညာ ဆည်းပူးခြင်းသည် "ဖရ်ဎ်ကိဖါယဟ်" ဖြစ်သည်။ ထို့အတွက် မြို့တိုင်း၊ ရွာတိုင်းတွင် လူအချို့သည် အစ္စလာမ်သာသနာရေးပညာ ရှာဖွေဆည်းပူးမှုတွင် လုံးပမ်းနေရန်မှာ ဝါဂျစ်ဗ်" ဖြစ်သည်။ သို့မဟုတ်ပါက အားလုံး၌ အပြစ်ရှိမည်ဖြစ်သည်" ဟု ဓမ္မသတ်ပညာရှင်များက ဆုံးဖြတ်ထားကြပေသည်။

"သာသနာရေးပညာ ဆည်းပူးသူများ၏ အဓိကရည်ရွယ်ချက်သည် သာသနာရေးပညာများ၌ ကျွမ်းကျင်ခြင်းနှင့် ကောင်းရာများကို ညွှန်ကြားပြသခြင်းသာလျှင် ဖြစ်သင့်သည်။ ဂုဏ်ထူး၊ ရာထူး၊ ရယူလိုခြင်း၊ ဥစ္စာပစ္စည်း စုဆောင်းလိုခြင်းနှင့် အငြင်းအခုန် ပြောဆိုလိုခြင်း အလျှင်းမဖြစ်သင့်" ဟု "ဆူဖီ" ဓမ္မသတ် ပညာရှင်များက ရေးသားကြပေသည်။

မုဖတ်စ်စစ်ရ် ဓမ္မသတ်ရှင်များက "တဗူးက်စစ်ပွဲတွင် ဂျိဟာဒ် ပြုလုပ်ခြင်းမှ နောက်ကျန်နေရစ်ခဲ့သော မွတ်စလင်မ်များအပေါ်၌ ပြစ်ဒဏ်များကျရောက်လာခဲ့သည့်အခါ စိုးရိမ်ကြောက်ရွံ့ကာ မွတ်စ်လမ်တို့သည် နောင်အချိန်များတွင် တယောက်မကျန် စစ်ပွဲသို့ ချီတက်လိုက်ပါကြတော့သည်။ ထိုအခါ" သာသနာရေး ပညာရပ်များကို လေ့လာသင်ကြားဆည်းပူးရန် အချို့ပုဂ္ဂိုလ်များ မြို့ရွာများ၌ပင် ကျန်ရှိနေကြရရန်အတွက် ဤအာယတ်တော် ကျရောက်လာခြင်းဖြစ်ကြောင်း။

'ဂျိဟာဒ် ဗစ်ဒ်ဒလာအစ်လ်' သက်သေသာဓက ကျိုးကြောင်းများတင်ပြကာ ဂျိဟာဒ်ပြုလုပ်ခြင်းသည် 'ဂျိဟာဒ် ဗစ်လ်အလ်စ်လိဟဟ်' လက်နက်များစွဲကိုင်ကာ ဂျိဟာဒ်ပြုလုပ်ခြင်းထက် ပိုမိုအရေးကြီးလှကြောင်း ရေးသားကြပေသည်။ (မာဂျိဒီ အစောင်-၂၊ စာမျက်နှာ-၄၂၉၊ အောက်ခြေအမှတ်-၂၂၉-၂၃၀)

(ဂ) ဤအာယတ်တော်နှင့် စပ်လျဉ်း၍ မောင်လာနာ ရှစ်ဗ်ဗီရ်အဟ်မဒ် အွတ်ဆ်မာနီ သခင်က အောက်ပါအတိုင်း ဖွင့်ဆိုရေးသားထားသည်။

အထက်က လွန်ခဲ့ပြီးသော အပိုဒ်များတွင် ဂျိဟာဒ်ပြုလုပ်ရန်အတွက် စစ်ချီထွက်ခြင်း၏ မြင့်မြတ် သည့်အကြောင်းနှင့် စစ်ချီမထွက်လျှင် အပြစ်ရှိသည့်အကြောင်းများ ပါရှိပေသည်။ ဤသည့်အကြောင်းအချက်ကို ထောက်ရှု၍ ဂျိဟာဒ် ပြုလုပ်ရန်အတွက် စစ်ချီထွက်ခြင်းသည် မွတ်စ်လင်မ်အားလုံးတို့ အပေါ်၌ 'ဖရ်ဎ်အိုင်န် ဖြစ်သည်' ဟု အချို့မွတ်စ်လင်မ်များ မှတ်ယူကောင်း မှတ်ယူပေမည်။ ထို့အတွက်ကြောင့် ဤအာယတ် တော်တွင် ဂျိဟာဒ် ပြုလုပ်ရန်အတွက် မွတ်စ်လင်မ်အားလုံး စစ်ချီရန် အမြဲတစေမလိုကြောင်း၊ ယင်းသို့ ➢➢

➤➤ စစ်ချီထွက်သင့်ကြောင်း၊ ကျန်လူများသည် အခြားအရေးကြီးသော ကိစ္စများကို ဆောင်ရွက်နေကြရမည်ဖြစ်ကြောင်း မိန့်ဆိုထားတော်မူသည်။

(၁) အကယ်၍ တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မိမိကိုယ်တိုင် စစ်ပွဲသို့ ချီတက်ကြွမြန်းသွားတော်မူသည်ရှိသော် မွတ်စ်လင်မ်တို့၏ အုပ်စုကြီးတိုင်းမှ တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့်အတူတကွ စစ်ပွဲသို့ ချီတက်လိုက်ပါသွားသော မွတ်စ်လင်မ်များသည် တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အပါးတော်တွင်ပင် နေထိုင်၍ မြောက်မြားစွာသော အဖြစ်အပျက်များ၊ အတွေ့အကြုံများနှင့် ပြဿနာများကိုပါ တွေ့ကြုံကြရပေမည်။ သာသနာရေးဆိုင်ရာ အသိပညာများကိုလည်း လေ့လာဆည်းပူးနိုင်ကြပေမည်။ ဤသို့ဖြင့် စစ်ပွဲမှ ပြန်လာကြသည့်အခါ စစ်ပွဲသို့မလိုက်ပါဘဲ နောက်ပိုင်းတွင် နေရစ်ခဲ့ကြသော မိမိတို့၏ အမျိုးသားများအား မိမိတို့၏ အတွေ့အကြုံများနှင့် မိမိတို့လေ့လာဆည်းပူးရရှိခဲ့သော သာသနာရေးဆိုင်ရာအသိပညာများကို ပြောကြားကြပေမည်။ အကောင်းအဆိုးခွဲခြား၍ သတိပေးနှိုးဆော်ကြပေမည်။

(၂) အကယ်၍ တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မိမိကိုယ်တော်တိုင် စစ်ပွဲသို့ ချီတက်ကြွမြန်းသွားတော်မမူဘဲ၊ မဒီနာမြို့၌ပင် ရှိနေတော်မူသော်၊ စစ်ပွဲသို့ လိုက်ပါမသွားကြဘဲ မြို့၌ ကျန်ရှိနေခဲ့ကြသော မွတ်စ်လင်မ်များသည် တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတော်တွင် ချဉ်းကပ်၍ သာသနာရေးဆိုင်ရာ အသိပညာများကို ဆည်းပူးနိုင်ကြပေမည်။ စစ်ပွဲသို့ လိုက်ပါချီတက် သွားနေကြသော မုဂျာဟစ်ဒ်များ မရှိခိုက် အလ္လာဟ်အရှင်မြတ်ထံတော်မှ တမန်တော်(ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)ထံသို့ ကျရောက်လာခဲ့သော တရားဒေသနာတော်များကိုလည်း ကြားနာခွင့် ရရှိကြပေမည်။ ဤသို့ တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့်အတူ နေထိုင်၍ သာသနာရေးဆိုင်ရာ အသိပညာများဆည်းပူးခွင့်ရရှိသော မွတ်စ်လင်မ်များသည် မိမိတို့ ဆည်းပူးရရှိထားသော သာသနာရေးဆိုင်ရာ အသိပညာများကို စစ်ပွဲမှ မိမိတို့ထံပြန်လာကြသော မုဂျာဟစ်ဒ်များအား ပြောကြားကြပေမည်။

ဤအာယတ်တော်ပါ အရဗီစာသွားစာလာကို စဉ်းစားဆင်ခြင်ပါက အထက်ဖော်ပြပါ အဓိပ္ပါယ်နှစ်မျိုးနှစ်စားလုံးကို ကောက်ယူနိုင်ပေသည်။ ရှုဟူလ်မအာနီနှင့် အချို့ကျမ်းကြီးများတွင်လည်း ဤအတိုင်းပင်ဖွင့်ဆိုရေးသားထားကြသည်။

ရှားဟ်ဆွာဟစ်ဗ်က ဖွင့်ဆိုရေးသားသည်မှာ – အုပ်စုတိုင်းမှ အချို့သူများသည် တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတော်ပါးတွင် နေထိုင်ပြီး သာသနာရေးပညာရပ်များကို မိမိတို့ ကိုယ်တိုင်သင်ယူ၍ သူတပါးတို့အားလည်း သင်ကြားပေးခဲ့ပေသည်။ ယခု တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဤမျက်မှောက်ဘဝ၌ မရှိတော့၊ သို့သော သာသနာရေးဆိုင်ရာ ပညာရပ်များနှင့် အာလင်မ်ပညာရှင်များကား အသင့်ရှိနေကြပေသည်။ သာသာနာရေးပညာ ဆည်းပူးခြင်းသည် 'ဖရ်ဃ်ကိဖာယဟ်' ဖြစ်သည်။ ဂျိဟာဒ် ပြုလုပ်ခြင်းသည်လည်း 'ဖရ်ဃိကိဖာယဟ်' ဖြစ်သည်။ သို့ရာတွင် အကယ်၍ အေမာမ် ရှေ့ဆောင်အကြီးအကဲက ပြည်သူအဝန်းအား စစ်ချီရန်အမိန့်ပေးသော် အားလုံးတို့အပေါ်၌ ဂျိဟာဒ်ပြုလုပ်ခြင်း သည် 'ဖရ်ဃ်အိုင်န်' ဖြစ်သွားပေသည်။ တဗူးက်စစ်ပွဲတွင်လည်း ဤအတိုင်းပင်ဖြစ်ခဲ့ပေသည်။ ထို့အတွက်ကြောင့်လည်း တဗူးက်စစ်ပွဲသို့ မလိုပါဘဲ နောက်ချန်ခဲ့သော မွတ်စ်လင်မ်များသည် အရေးယူတော်မူခြင်း ခံခဲ့ကြရပေသည်။

အဗူဟိုင်ယာန်၏ ယူဆချက်အရ ဤအာယတ်တော်သည် ဂျိဟာဒ်နှင့် မပတ်သက်၊ သာသနာရေးပညာဆည်းပူးခြင်းသာ ပတ်သက်သည်။ ဂျိဟာဒ်နှင့်စပ်လျဉ်းသည့် အာယတ်တော်များကား သာသနာရေးရာပညာဆည်းပူးခြင်းနှင့် စပ်လျဉ်းသည့် အာယတ်တော်များနှင့် ဆက်စပ်လျက်ရှိပေသည်။ ➤➤

يَآيُّهَا الَّذِيْنَ اٰمَنُوْا قَاتِلُوا الَّذِيْنَ يَلُوْنَكُمْ مِّنَ الْكُفَّارِ وَلْيَجِدُوْا فِيْكُمْ غِلْظَةً ۭ وَاعْلَمُوْٓا اَنَّ اللّٰهَ مَعَ الْمُتَّقِيْنَ ﴿١٢٣﴾

၁၂၃။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် မိမိတို့၏ အနီးပတ်ဝန်းကျင်ရှိ 'ကာဖိရ်' မယုံမကြည် သွေဖည်ငြင်းပယ်သူတို့အား တိုက်ခိုက်ကြလေကုန်၊ [၁] ထို့ပြင် ၎င်း 'ကာဖိရ်' မယုံမကြည် သွေဖည်ငြင်းပယ်သူတို့သည် အသင်တို့၌ ပြင်းထန်မှုကို တွေ့ရှိကြစေရာ၏။ [၂] ၎င်းပြင် ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် သူတော်စင်တို့နှင့် အတူရှိတော်မူကြောင်း အသင်တို့သည် (ကောင်းစွာ) သိထားကြလေကုန်။ [၃]

---

➤➤ ဆက်စပ်မှု ဂျိဟာဒ် ပြုလုပ်ရန်နှင့် သာသာနာရေးပညာ ဆည်းပူးခြင်းအတွက် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်သို့ ထွက်ကြရသည်။ ထိုလမ်းနှစ်ခုလုံး၏ အဓိကရည်ရွယ်ချက်မှာ သာသနာတော်ကို တည်တံ့စေရန်နှင့် မြင့်တင်စေရန်ပင် ဖြစ်သည်။ ဂျိဟာဒ်၌လည်း လက်နက်ကို အသုံးပြုရသည်။ သာသာနာရေးပညာ ဆည်းပူးရာ၌ နှုတ်လျှာကို အသုံးပြုရသည်။

ဤအာယတ်တော်နှင့် စပ်လျဉ်း၍ အကျယ်ကိုသိလိုပါက အစ်ဗ်နုဂျရီးရ်၊ အစောင်-၁၁၊ စာမျက်နှာ (၄၈-၅၂)တွင်လည်းကောင်း၊ ခါဇင်န်ကျမ်း၊ အစောင်-၃၊ စာမျက်နှာ(၁၃၆-၁၃၈)တွင်လည်းကောင်း၊ အလ်မနာကျမ်း၊ အစောင်-၁၁၊ စာမျက်နှာ (၇၇-၈၀)တွင်လည်းကောင်း ရှုပါကုန်။

(၁) ဤအာယတ်တော်၏ သဘောကား 'မွတ်စ်လင်မ်များသည် ရန်သူကာဖိရ်တို့အား တိုက်ခိုက်ရန်အတွက် အမြဲတစေ အင်အားအပြည့်အစုံနှင့် တောင့်တင်းစွာ အသင့်ရှိနေကြရမည် ဟူ၍ ဖြစ်သည်။ သို့မှသာလျှင် ရန်သူများသည် မွတ်စ်လင်မ်တို့အား ကျူးကျော်စော်ကားဝံ့ကြမည် မဟုတ်ပေ။

ဤအာယတ်တော်တွင် ရန်သူများနှင့် ပြိုင်ဆိုင်တိုက်ခိုက်ရာတွင် မည်သို့သော ရန်သူများအား စတင် ရင်ဆိုင် တိုက်ခိုက်ရမည့် အစီအစဉ်ကိုလည်း ပြဆိုထားတော်မူသည်။ ယင်းအစီအစဉ်အရ မွတ်စ်လင်မ်တို့သည် ရန်သူများအနက် မိမိတို့နှင့် နီးစပ်လျက်ရှိသော ရန်သူများအား ဦးစွာပထမ စတင်တိုက်ခိုက်ကြရမည် ဖြစ်သည်။ မိမိတို့နှင့် နီးစပ်လျက်ရှိသော ရန်သူများအား စတင်တိုက်ခိုက်ခြင်း၏ အကျိုးအာနိသင်ကား ထင်ရှားလှပေသည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့်တကွ "ခုလဖာအိရာရှိဒီးန်" ခေါ် ဖြောင့်မတ်မှန်ကန်တိကျသော မွတ်စ်လင်မ် သမ္မတကြီးများသည်လည်း ဤသည့်အစီအစဉ်အတိုင်း ရန်သူများအနက် မိမိတို့နှင့် နီးစပ်လျက်ရှိသော ရန်သူများကိုသာ စတင် တိုက်ခိုက်တော်မူခဲ့ကြပေသည်။

ဤသည့်အတွက်ကြောင့်လည်း တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အရဗ်တို့နှင့် စတင်တိုက်ခိုက်တော်မူခဲ့ပေသည်။ အရဗ်တို့နှင့် တိုက်ခိုက်၍ ပြီးစီးတော်မူသည့်အခါတွင်မှ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဆီရိယားနိုင်ငံရှိ ရောမအမျိုးသားများနှင့် တိုက်ခိုက်တော်မူခဲ့လေသည်။ (ကုရ်တုဗီ)။

١٢٤။ စင်စစ်သော်ကား မည်သည့် အခါမျိုး၌မဆို (ကုရ်အာန်ကျမ်းတော်မြတ်၏) 'စူရဟ်' ကဏ္ဍ တခုခု သည် (အလ္လာဟ်အရှင်မြတ် အထံတော်မှ) ချပေး သနားတော်မူခြင်း ခံခဲ့ရပါလျှင်၊ ထို ('မုနာဖစ်က်' မွတ်စ်လင်မ် အယောင်ဆောင်သော) သူတို့အနက်မှ အချို့က "ဤ 'စူရဟ်' ကဏ္ဍသည် အသင်တို့အနက် မည်သူ၏ အီမာန်သက်ဝင်ယုံကြည်မှုကို တိုးတက် စေပါသနည်း" ဟု ပြောဆိုကြလေ၏။ [၁]

وَإِذَا مَآ أُنزِلَتْ سُورَةٌ فَمِنْهُم مَّن يَقُولُ أَيُّكُمْ زَادَتْهُ هَٰذِهِۦٓ إِيمَٰنًا ۚ فَأَمَّا ٱلَّذِينَ ءَامَنُوا۟ فَزَادَتْهُمْ إِيمَٰنًا وَهُمْ

---

(၂) မွတ်စ်လင်မ်များနှင့် ကာဖိရ်များ ပြိုင်ဆိုင်တိုက်ခိုက်ကြရာ၌ မွတ်စ်လင်မ်တို့တွင် ပြင်းထန်မှု၊ တောင့်တင်းမှု၊ အင်အားကြီးမှု၊ ရင့်ကျက်မှုများ ရှိနေကြရပေမည်။

မွတ်စ်လင်မ်တို့သည် ရင်ဆိုင်တိုက်ခိုက်ရာတွင် လျော့ရိလျော့ရဲ မလုပ်ကြရ၊ သို့မှသာ ကာဖိစ်ရ်တို့၏ အရှိန်အဝါသည် မွတ်စ်လင်မ်တို့အပေါ်၌ မလွှမ်းမိုးဘဲ၊ မွတ်စ်လင်မ်တို့၏ အရှိန်အဝါသာလျှင် ကာဖိရ်တို့အပေါ်၌ လွှမ်းမိုးသွားပေသည်။

မုအ်မင်န်တဦး၏ ဂုဏ်ရည်မှာ မိမိ၏ ညီနောင်အဖို့ ပျော့ပျောင်း၍ အလ္လာဟ့်ရန်သူများနှင့် ရစူလ်၏ရန်သူများအဖို့မှာကား ခက်ထန်ရမည်ဖြစ်သည်။ မုအ်မင်န်များသည် ရန်သူများနှင့် ဆက်ဆံရာတွင် လျော့ရိလျော့ရဲ ပြုလုပ်ပါက ရန်သူများသည် ရောင့်တက်လာကြပေမည်၊ ထို့အတွက်ကြောင့် ရန်သူကာဖိရ်များ အပေါ်၌ ပြင်းထန်ရမည့်အကြောင်း ကုရ်အာန်ကျမ်းမြတ် (၅း၅၄။ ၉း၇၃။ ၄၈း၂၉)တို့တွင် အတည့်အလင်း မိန့်ဆိုထားတော်မူသည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ကိုယ်တော်တိုင်ကပင် "ကျွန်ုပ်သည် အလွန်ချိုသာ ပြုံးရွှင်သူ၊ အလွန်ပြိုင်ဆိုင် သတ်ဖြတ်သူဖြစ်သည်" ဟု မိန့်ဆိုထားတော်မူခဲ့လေသည်။

(၃) အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ဂျိဟာဒ်ပြုလုပ်ခြင်းနှင့် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်း၏ အခြေခံ သဘောတရားသည်လည်း "တာက္ကဝါ" တရားပင် ဖြစ်ရမည်။ ဤအာယတ်တော်တွင် "မွတ္တကီးန" ဟူသောပုဒ်ကို သုံးနှုန်းတော်မူ၍ တဖက်တွင် ဂျိဟာဒ်ပြုရာ၌ စိတ်စေတနာ ဖြူစင်စွာထားရှိရန် ညွှန်ကြားထားတော်မူသည်။ ထို့ပြင်တဝ ဥစ္စာပစ္စည်းကို လိုချင်တပ်မက်မောမှု၊ နာမည်ကြီးလိုမှု စသည့် လောကီရမ္မက်များ မထားမရှိစေရန် ပိတ်ပင်ထားတော်မူသည်။ အခြားတဖက်တွင် အလ္လာဟ်အရှင်မြတ်သည် မွတ္တကီများနှင့် အတူတကွ ရှိတော်မူသည်' ဟု မိန့်ဆိုတော်မူကာ "တာက္ကဝါ" တရား လက်ကိုင်ထားသော မွတ္တကီများသည် အလ္လာဟ်အရှင်မြတ်မှတပါး မည်သူ့ကိုမျှ စိုးရိမ်ကြောက်ရွံ့ရန် မလိုကြောင်း၊ မွတ္တကီများအား ထိန်းသိမ်းစောင့်ရှောက် ကာကွယ်ရန်အတွက် ကြီးကျယ်မြင့်မြတ်လှသော အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင်ပင် အသင့်ရှိနေတော်မူကြောင်း ညွှန်ပြ ထားတော်မူသည်။

(၁) ကုရ်အာန်ကျမ်းတော်မြတ်လာ ကဏ္ဍတခုခုကျရောက်လာသည့်အခါ မုနာဖစ်က်များသည် ၎င်းတို့ အချင်းချင်းသော်လည်းကောင်း၊ သို့မဟုတ် အချို့ရိုးသားသော မွတ်စ်လင်မ်များကိုသော်လည်းကောင်း၊ ➤➤

يَسْتَبْشِرُونَ ﴿١٢٤﴾

စင်စစ်သော်ကား မည်သို့ပင်ဖြစ်စေ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အဖို့ ထို 'စူရဟ်' ကဏ္ဍသည် ၎င်းတို့၏ 'အီမာန်' သက်ဝင်ယုံကြည်မှုကို တိုးတက်စေခဲ့၏။ ထို့ပြင် ၎င်းတို့သည် ဝမ်းမြောက်ပျော်ရွှင်လျက် ရှိကြကုန်သတည်း။

وَأَمَّا الَّذِينَ فِي قُلُوبِهِم مَّرَضٌ فَزَادَتْهُمْ رِجْسًا إِلَىٰ رِجْسِهِمْ وَمَاتُوا وَهُمْ كَافِرُونَ ﴿١٢٥﴾

၁၂၅။ သို့ရာတွင် စိတ်နှလုံးများတွင် ရောဂါရှိသောသူတို့အဖို့ ထို'စူရဟ်'ကဏ္ဍသည် ၎င်းတို့၏ အညစ်အကြေးတွင်အညစ်အကြေးတခုခုကို (ထပ်လောင်း၍) တိုးစေခဲ့သည်။ ထို့ပြင်၎င်းတို့သည် 'ကာဖိရ်' မယုံမကြည် သွေဖည်ငြင်းပယ်သူများ အဖြစ်နှင့်ပင် သေဆုံးခဲ့ကြရလေသည်။

أَوَلَا يَرَوْنَ أَنَّهُمْ يُفْتَنُونَ فِي كُلِّ عَامٍ مَّرَّةً أَوْ مَرَّتَيْنِ ثُمَّ لَا يَتُوبُونَ وَلَا هُمْ يَذَّكَّرُونَ ﴿١٢٦﴾

၁၂၆။ ၎င်းတို့သည် မိမိတို့မှာ တနှစ်လျှင် တကြိမ်သို့မဟုတ် နှစ်ကြိမ် စမ်းသပ်ခြင်း ခံကြရသည်ကို မမြင်ကြလေသလော၊ သို့ပါလျက် ၎င်းတို့သည် ဝန်ချတောင်းပန်ကြသည်လည်းမဟုတ်ပေ၊ သတိတရားရရှိကြသည်လည်း မဟုတ်ချေတကား။ ၁

---

➤➤ 'ဤကဏ္ဍသည် အသင်တို့အနက် မည်သူမည်ဝါ၏ အီမာန် ယုံကြည်မှုကို တိုးတက်စေသနည်း' ဟု ပြက်ရယ်ပြောင်လှောင်သည့် သဘောဖြင့် မေးကြလေသည်။ ယင်းသို့ မုနာဖစ်က်များ မေးကြခြင်းမှာ "ဤကဏ္ဍတွင် အနက်အဓိပ္ပါယ် အနှစ်သာရပြည့်ဝသည့် တရားများ မပါရှိ"ဟု ဆိုလိုခြင်းဖြစ်သည်။ ယင်းမုနာဖစ်က်များ၏ ထိုသို့ ပြောဆိုခြင်းနှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်က ဖြေကြားတော်မူသည်မှာ "မုအ်မင်န်များသည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များကို ကြားနာကြရသည့်အခါ ၎င်းတို့၏ အီမာန်ယုံကြည်မှုသည် အမှန်တကယ်ပင် တိုးပွားလာသည်။ လန်းဆန်းလာသည်၊ ရင့်ကျက်လာသည်၊ ၎င်းတို့၏ စိတ်နှလုံးများလည်း ပျော်ရွှင်ကြည်နူးလာသည်။ အကြင်သူများ၏ စိတ်နှလုံးများတွင် ကုဖ်ရ်၊ နိဖာက်၏ ရောဂါစွဲကပ်လျက်ရှိ၏။ အညစ်အကြေးရှိ၏၊ ယင်းသို့သော သူများအဖို့မှာကား ၎င်းတို့၏ရောဂါနှင့် အညစ်အကြေးများသည် ('နူရာဝဲစွဲ' ဆိုသကဲ့သို့) ထူပြော၍ လာပေသည်။ နောက်ဆုံးတွင် ထိုရောဂါနှင့် အညစ်အကြေးများကြောင့် ကာဖိရ်အဖြစ်နှင့်ပင် သေကြရလေသည်။

(၁) မုနာဖစ်က်များသည် နှစ်စဉ်နှင့်အမျှ အနည်းဆုံး တကြိမ်နှစ်ကြိမ် စမ်းသပ်ခြင်း ခံနေကြရသည်။ ဒုက္ခကြီးငယ်များနှင့် ရင်ဆိုင်နေကြရသည်။ ဥပမာအားဖြင့် တခါတရံ မုနာဖစ်က်များထံသို့ မိုးခေါင်ရေရှားသည့်ကပ်၊ ရောဂါကပ် စသည်များ ဆိုက်ရောက်တတ်သည်၊ တခါတရံ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ ➤➤

وَإِذَا مَآ أُنزِلَتْ سُورَةٌ نَّظَرَ بَعْضُهُمْ إِلَىٰ بَعْضٍ هَلْ يَرَىٰكُم مِّنْ أَحَدٍ ثُمَّ ٱنصَرَفُوا۟ ۚ صَرَفَ ٱللَّهُ قُلُوبَهُم بِأَنَّهُمْ قَوْمٌ لَّا يَفْقَهُونَ ﴿١٢٧﴾

၁၂၇။ ထိုမှတစ်ပါး မည်သည့်အခါမျိုးမဆို 'စူရဟ်' ကဏ္ဍတခုခုကို ချပေးသနားတော်မူခြင်းကို ခံခဲ့ရပါလျှင်၊ ၎င်းတို့အနက် တဦးကတဦးကို ကြည့်(၍) "အသင်တို့အား (နဗီတမန်တော်နှင့် မွတ်စ်လင်မ်တို့အနက်မှ) *တဦးဦးသည် ကြည့်နေသလော*" [၁] ဟု (အရိပ်အယောင်ဖြင့် ပြောဆို)မေးမြန်းပြီးနောက် ပြန်လှည့်(၍ ထွက်သွား)ခဲ့ကြလေသည်။

(စင်စစ်သော်ကား) အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏စိတ်နှလုံးများကို လှည့်၍ ထားတော်မူခဲ့လေသည်။ အဘယ်ကြောင့်ဆိုသော် ၎င်းတို့သည် အသိဉာဏ်ကို အသုံးမပြုသောသူများသာ ဖြစ်ကြသောကြောင့်ပင်။

---

➤➤ ဝစလ္လမ်)၏ ဖွင့်ဟပြန်ကြားတော်မူခြင်းကြောင့် မုနာဖစ်က်များသည် ၎င်းတို့တွင် ကိန်းဝပ်နေသည့် နိဖာက်ပေါ်လွင်ထင်ရှားကာ အရှက်တကွဲ အကျိုးနည်းဖြစ်ကြရသည်။ တခါတရံ ဂျိဟာဒ်စစ်ပွဲများတွင် ၎င်းတို့၏ သတ္တိကြောင်မှု၊ အတွင်းစိတ်ဓာတ် ယုတ်မာမှုများ ပေါ်လွင်ထင်ရှားတတ်ပေသည်။ သို့သော်ငြားလည်း မုနာဖစ်က်များသည် အရှက်အကြောက် ကင်းမဲ့ကာ အတွင်းစိတ်ဓာတ် လွန်စွာညံ့ဖျင်း၊ ဆိုးရွားလှသည့်အတွက် ၎င်းတို့သည် အနည်းငယ် စိုးစဉ်းမျှပင် မတုန်လှုပ်ကြ၊ အမှားကိုလည်း ဝန်မခံကြပေ။ သတိတရားလည်း မရကြချေ။

(၁) တခါတရံ မုနာဖစ်က်များသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ထံတော်ပါးသို့ ရောက်ရှိနေကြချိန်တွင်၊ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံသို့ 'စူရဟ်' ကဏ္ဍတခုခု ကျရောက်လာတတ်၏။ ထိုအခါ မုနာဖစ်က်များသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ထံတော်ပါးမှ ထ၍ပြန်ကြ၏။ ယင်းသို့ထပြန်ကြသည့်အခါတွင် အချင်းချင်း လက်ရိပ်ခြေရိပ် မျက်ရိပ်ပြကာ 'မုအ်မင်န် တဦးတယောက်သည် ငါတို့ထပြန်ကြသည်ကို မြင်နေသလော' ဟု မေးမြန်းကြ၏။ ယင်းသို့ မေးမြန်းခြင်းမှာ ၎င်းတို့ ထိုသို့ထပြန်ကြသည်ကို မုအ်မင်န် တဦးတယောက် တွေ့မြင်သွားလျှင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံ သွားရောက်တိုင်ကြားမည်ကို စိုးရိမ်ကြခြင်းကြောင့် ဖြစ်သည်။

မုနာဖစ်က်များသည် မိမိတို့ရရှိထားသော အသိဉာဏ်ကို အသုံးမပြုကြပေ။ (မိမိတို့၏ အသိဉာဏ်များကို အသုံးပြု၍ အစ္စလာမ်သာသနာတော်၏ အဆုံးအမ ဩဝါဒများကိုလည်း နားမလည်လိုကြ၊ မနာခံလိုကြပေ။) မိမိတို့၏အကျိုးကိုလည်း မမြင်ကြပေ၊ မိမိတို့၏ အကျိုးကိုပစ်၍ ပြေးကြသည်။ ထို့အတွက်ကြောင့်လည်း တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတော်ပါးမှ ထပြန်ကြခြင်းဖြစ်သည်။

အမှန်မှာ မုနာဖစ်က်များ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတော်ပါးမှ ➤➤

لَقَدْ جَآءَكُمْ رَسُولٌ مِّنْ أَنفُسِكُمْ عَزِيزٌ عَلَيْهِ مَا عَنِتُّمْ حَرِيصٌ عَلَيْكُم بِٱلْمُؤْمِنِينَ رَءُوفٌ رَّحِيمٌ ﴿١٢٨﴾

၁၂၈။ ဧကန်မလွဲ အသင်တို့အနက်မှပင် ရစူလ်တမန်တော်တပါးသည် အသင်တို့ထံ ရောက်ရှိလာခဲ့ချေပြီ။ [၁] အသင်တို့ တွေ့ကြုံရသော ဒုက္ခသည် *ထိုရစူလ်တမန်တော်၏အပေါ်၌ အလွန် ဝန်လေးလှသည်။* [၂] (၎င်းပြင် ထိုရစူလ်တမန်တော်သည်) အသင်တို့နှင့်ပတ်သက်၍ ကောင်းရာကောင်းကြောင်းများကိုသာ အာသာဆန္ဒ ပြင်းပြစွာ တပ်မက်သူဖြစ်၏။ (ထိုမှတစ်ပါး) 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့နှင့် ပတ်သက်၍ *အလွန်တရာ နူးညံ့သိမ်မွေ့သူ၊ အလွန်တရာ သနားကြင်နာသူတဦး(လည်း) ဖြစ်ချေသတည်း။* [၃]

---

➢➢ ထပြန်ကြခြင်းမှာ ၎င်းတို့သည် မိမိတို့ရရှိသော အသိဉာဏ်များကို အသုံးမပြုကြသည့်အတွက် အလ္လာဟ်အရှင်မြတ်က ၎င်းတို့၏ စိတ်နှလုံးများကို အီမာန်ယုံကြည်ခြင်းမှသာမက ကောင်းကျိုးချမ်းသာ အားလုံးတို့မှပင် လှည့်ဖယ်ထားတော်မူလိုက်ခြင်းဖြစ်သည်။

(၁) ဤအာယတ်တော်တွင် ( لَقَدْ جَآءَكُمْ رَسُولٌ مِّنْ أَنفُسِكُمْ ) ဟူ၍ (كُمْ) ဟူသော နာမ်စား နှစ်နေရာ၌ ပါရှိသည်။ ယင်းနာမ်စားသည် မည်သူမည်ဝါအား ရည်ညွှန်းသနည်း၊ အချို့ပညာရှင်များက 'တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အရဗ်လူမျိုးတို့ထံသို့ စေလွှတ်တော်မူခြင်း ခံရသည်ဖြစ်ရာ ဤနာမ်စားသည် အရဗ်လူမျိုးတို့အား ရည်ညွှန်းသည်' ဟု ဆိုကြသည်။ သို့ရာတွင် "ဤနာမ်စားသည် လူသားထုကြီး တရပ်လုံးအား ရည်ညွှန်းခြင်းဖြစ်သည်" ဟူသောအဆိုမှာ ပို၍မှန်ကန်ပေသည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အရဗ်လူမျိုးတို့ထံသို့သာလျှင် စေလွှတ်တော်မူခြင်း ခံရသည်မဟုတ်၊ ကမ္ဘာ့အဝန်းသို့ စေလွှတ်တော်မူခြင်း ခံရတော်မူသောကြောင့် ဖြစ်သည်။

(မာဂျိဒီ၊ အစောင် ၂၊ စ- ၄၃၀၊အအ-၂၄၀။)

ဆိုလိုသည်ကား တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် လူသားတဦးဖြစ်သည်၊ လူသားထုကြီးအနက်မှပင် ဖြစ်သည်၊ သူစိမ်းမဟုတ်၊ တရံဆံမဟုတ်၊ သားချင်းဖြစ်၏၊ ယင်းသို့ လူသားထုကြီး တရပ်လုံးအား တရားဓမ္မ ဟောညွှန်ပြရန်အလို့ငှာ ယင်းလူသားထုကြီးထံသို့ ယင်းလူသားထုကြီးအနက်မှ သားချင်းတဦးအား တမန်တော်အဖြစ် စေလွှတ်တော်မူခြင်းမှာ လူသားတို့အဖို့ ပိုမို အကျိုးဖြစ်ထွန်းစေရန်ပင် ဖြစ်သည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ မဟာကျေးဇူးတော်ပင်။

(၂) တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကမ္ဘာ့အဝန်းအား ကရုဏာပွားများရန်အတွက်သာ ပွင့်လာတော်မူခဲ့ခြင်းဖြစ်သည်။ (ကြည့်-ကုရ်အာန်-၂၁း၁၀၇)။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) သည် ကမ္ဘာ့အဝန်းအား ကရုဏာပွားများရန်အတွက် ပွင့်လာတော်မူလာခဲ့သည့်အလျောက် လူသားတို့ တွေ့ကြုံခံစားကြရသည့် ဒုက္ခကြီးငယ် များသည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အဖို့ ➢➢

➤➤ လေးလံလှပေသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကမ္ဘာသူ၊ ကမ္ဘာသားတို့အား သနားတော်မူ၏။ ကြင်နာတော်မူ၏၊ မေတ္တာထားတော်မူ၏၊ ကရုဏာပွားတော်မူ၏၊ ကမ္ဘာ့ဒုက္ခကို မိမိ၏ဒုက္ခ၊ ကမ္ဘာ့သုခကို မိမိ၏သုခဟု ခံယူတော်မူ၏၊ ကမ္ဘာ့ကောင်းကျိုးချမ်းသာကို စိတ်စေတနာ ထက်သန်စွာဖြင့် လိုလားတော်မူ၏။ ကမ္ဘာ့အေးချမ်းသာယာမှုကိုသာ တွေ့လိုတော်၊ မြင်လိုတော်မူ၏။ ကမ္ဘာ့ဆိုးကျိုးကို လုံးဝအလျှင်း တွေ့မြင်လိုတော်မူခြင်း မရှိပေ။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် (ကရုဏာတော်ရှင်ပီပီ) မိမိ၏ နောက်လိုက် တပည့်သားတို့အဖို့ အဘက်ဘက်မှ လွယ်ကူမှုကိုသာ လိုလားတော်မူ၏။ နှစ်ဘဝ၏ ဘေးဒုက္ခအပေါင်းမှ ကင်းဝေးမှုကိုသာ အမြဲတစေ တောင့်တတော်မူ၏။ ထို့အတွက်ကြောင့်လည်း တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် လွယ်ကူသော၊ ပျော့ပျောင်းသော၊ နူးညံ့သိမ်မွေ့သော သာသနာတော်ကို ယူဆောင်လာတော် မူခဲ့လေသည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အရာရှိကြီးငယ်တို့အား . . .

"အသင်တို့သည် လွယ်ကူအောင် ပြုလုပ်ကြ၊ ကျပ်တည်းအောင် မပြုလုပ်ကြနှင့်" ဟု အမြဲတစေ သတိပေး မှာကြားတော်မူလေ့ရှိသည်။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် လူသားတို့၏ ကောင်းကျိုးကို အထူး လိုလားတော်မူသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၌ လူသားတို့အား အကျိုးဖြစ်ထွန်းစေလို သည့် ထက်သန်လှသော စိတ်စေတနာရှိသည်။ လူသားတို့သည် ငရဲဘုံထဲသို့ ပြေးဆင်းလျက်ရှိကြသည်၊ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ၎င်းတို့၏ ခါးများကိုဆွဲကိုင်ကာ ငရဲမလားရန် ဖယ်ရှား ကယ်တင်တော်မူနေသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ထူးကဲလှသည့် ကြိုးပမ်းမှု၏ လိုလားချက်ကား ကမ္ဘာသူ ကမ္ဘာသားတို့သည် မှန်ကန်သော၊ အစစ်အမှန်ဖြစ်သော ကောင်းကျိုးချမ်းသာနှင့် အောင်မြင်မှုကို ရရှိကြစေရန်ပင်ဖြစ်သည်။

**<u>တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ မေတ္တာနှင့် ဂျိဟာဒ်။</u>**

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် 'ဂျိဟာဒ်' ပြုတော်မူခဲ့၏၊ စစ်ပွဲများ ဆင်နွှဲတော်မူခဲ့၏။ သို့ရာတွင် ဤ 'ဂျိဟာဒ်' နှင့် စစ်ပွဲများသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ၏ ကရုဏာ၊ မေတ္တာနှင့် မည်သို့မျှ မဆန့်ကျင်ပေ။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မလွှဲသာသည့် အဆုံးတွင်မှ သာသနာ့ရန်သူ၊ လူသားတို့၏ ရန်သူများနှင့် စစ်ပွဲဆင်နွှဲတော်မူခဲ့သည်။ ယင်းစစ်ပွဲ ဆင်နွှဲတော်မူခြင်း၏ ရည်ရွယ်ချက်မှာ သွေးသွန်းရန်မဟုတ်၊ ဆရာဝန်များသည် အချို့ရောဂါသည်တို့ကို (Operation) ခွဲစိတ်ဖြတ်တောက် ကုသပေးဘိသကဲ့သို့ သာသနာ့ရန်သူ၊ လူသားတို့၏ ရန်သူများနှင့် စစ်ပွဲ ဆင်နွှဲတော်မူခြင်းမှာလည်း တနည်းအားဖြင့် (Operation) ပြုလုပ်ခြင်းပင်ဖြစ်သည်။ လင်းပြဦးအံ့၊ အချို့လူများ၏ အင်္ဂါအစိတ်အပိုင်းများသည် ကုသ၍ပင် မရနိုင်ဖြစ်နေ၏။ အချို့အစိတ်အပိုင်းများတွင် အန္တရာယ်ဖြစ်စေမည့် ပိုးများ ကျနေ၏။ ထိုသို့သော အခြေအနေတွင် ဆရာဝန်များသည် ခွဲစိတ်ဖြတ်တောက်၍ ကုသကြသည်။ ထိုသို့ ခွဲစိတ်ဖြတ်တောက်ကုသခြင်းသည် ရောဂါသည်အား ဒုက္ခပေးသည်မဟုတ်၊ ညှဉ်းပန်းသည် မမည်။ ရောဂါသည်၏ ကျန်းမာရေးကို ပိုမိုကောင်းမွန်စေရန် ပြုလုပ်ပေးခြင်းနှင့် ရောဂါသည်အား သနား ကြင်နာခြင်း သာမည်၏၊ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ ဂျိဟာဒ်နှင့် စစ်ပွဲများမှာလည်း တနည်းအားဖြင့် သာသနာ့ (Operation) ပင် ဖြစ်ပေသည်။ ဤ ဂျိဟာဒ် နှင့် စစ်ပွဲများသည် ➤➤

فَإِنْ تَوَلَّوْا فَقُلْ حَسْبِيَ اللَّهُ لَآ إِلَٰهَ إِلَّا هُوَ ۖ عَلَيْهِ تَوَكَّلْتُ ۖ وَهُوَ رَبُّ الْعَرْشِ الْعَظِيمِ ﴿١٢٩﴾

၁၂၉။ တဖန် အကယ်၍ ၎င်းတို့သည် (သိနားလည်ပါလျက်နှင့် ယုံကြည်လိုက်နာခြင်းမရှိပဲ) ပြန်လှည့်၍ သွားခဲ့ကြပါလျှင် အသင်သည် (၎င်းတို့အား ဤသို့ ပြောကြားပါလေ) "ငါတို့အဖို့ အလ္လာဟ်အရှင်မြတ်သည် (အဖက်ဖက်မှ) လုံလောက်တော်မူပေသည်၊ ထိုအရှင်မြတ်မှတစ်ပါး ကိုးကွယ်ရာအရှင်ဟူ၍ အလျှင်းမရှိ။

ထိုအရှင်မြတ်အပေါ်၌သာလျှင် ငါသည် (အစစအရာရာတွင် လုံး၀) ယုံကြည် လွှဲအပ်ခဲ့လေပြီ၊ ထိုမှတပါး ထိုအရှင်မြတ်သည် ကြီးကျယ်မြင့်မြတ်လှစွာသော 'အရ်ရှ်' ပလ္လင်တော်ကို စိုးပိုင်တော်မူသောအရှင်လည်း ဖြစ်တော်မူပေသတည်း။ ၁

---

▶▶ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ၀စလ္လမ်)၏ မေတ္တာ၊ကရုဏာကို ဆန့်ကျင်ရာမကျ၊ ထောက်ခံရာသာလျှင် ကျပေသည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ၀စလ္လမ်)သည် လူသားတို့အဖို့ နှစ်ဘ၀၏ သုခချမ်းသာဖြစ်ထွန်းစေမည့် စည်းမျဉ်းစည်းကမ်းနှင့် လမ်းစဉ်ကို ယူဆောင်လာတော်မူခဲ့၏။ ထိုစည်းမျဉ်းစည်းကမ်းနှင့် လမ်းစဉ်ကို အကောင်အထည်ဖော်ရန် ကြိုးပမ်းတော်မူ၏၊ အချို့သူများသည် ထိုသို့သော စည်းမျဉ်းစည်းကမ်းနှင့် လမ်းစဉ်ကို အကောင်အထည် ဖော်ရာတွင် ကူညီ အားပေးရမည့်အစား ဆန့်ကျင်လာကြ၏။

အမှန်အားဖြင့် ထိုသူများသည် ကမ္ဘာ့ငြိမ်းချမ်းရေးနှင့် ကမ္ဘာ့လူထုကြီးအဖို့ ဆူးငြောင့်ခလုတ်များဖြစ်နေသည်။ ဤသည့် ဆူးငြောင့်ခလုတ်များအား သုတ်သင်ရှင်းလင်းခြင်းကို အသိဉာဏ် အမြော်အမြင်ရှိသူ မှန်သမျှတို့သည် ကန့်ကွက်ကြမည်မဟုတ်၊ ထောက်ခံမည်သာဖြစ်သည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ၀စလ္လမ်)၏ ဂျိဟာဒ်သည် တနည်းအားဖြင့် ဤသည့် ဆူးငြောင့်ခလုတ်များအား သုတ်သင်ရှင်းလင်းပစ်ခြင်းပင် ဖြစ်ပေသည်။

(၃) တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ၀စလ္လမ်)သည် ကမ္ဘာ့အ၀ှန်းအား ဤမျှေ့ဤမျှ သနားကြင်နာ၊ မေတ္တာထားတော်မူလျှင် မုအ်မင်န်တို့အား အတိုင်းအဆမရှိ သနားကြင်နာ မေတ္တာထားတော်မူမည်မှာ ထင်ရှားလှ၏။ ထုတ်ဖော်၍ ရေးသားရန်ပင် မလိုပေ။

(၁) တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ၀စလ္လမ်)သည် ကမ္ဘာ့အ၀န်းအား ဤမျှေ့ဤမျှ သနားကြင်နာ မေတ္တာထားတော်မူပါလျက် အကယ်၍ အချို့သူများသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ၀စလ္လမ်)၏ သနားကြင်နာမှုနှင့် မေတ္တာများကို တန်ဖိုးမထားကြလျှင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ ▶▶

➤➤ ဝစလ္လမ်) အဖို့မှာကား တစုံတရာ နစ်နာဆုံးရှုံးဖွယ်ရာ အလျင်းမရှိပေ။ အကယ်တန္တု ကမ္ဘာ့အဝန်းရှိ လူသားအားလုံးတို့သည်ပင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ကျောခိုင်းသွားကြသည်ရှိသော် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အဖို့ တဆူတည်း ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်သည်ပင် လုံလောက်တော်မူပေသည်။ အဘယ်ကြောင့်ဆိုသော် ထိုအရှင်မြတ်မှတပါး မည်သူတဦးတယောက်မျှ ခဝပ်ကိုးကွယ်ခြင်း ခံထိုက်သည်ဟူ၍ အလျင်းမရှိ။ ထိုအရှင်မြတ်မှတပါး မည်သူ့အပေါ်၌မျှ ယုံကြည်လွှဲအပ်ရန် အကြောင်း အလျင်းမရှိ။ ထိုအရှင်မြတ်သည် မိုးမြေများကို မဆိုထားဘိ၊ အတိုင်းအဆ မရှိ အလွန် ကြီးကျယ် မြင့်မြတ်လှသည့် 'အရ်ရှ်' ပလ္လင်တော်ကိုပင် စိုးပိုင်တော်မူသည်။ ထို့ပြင်တဝ ကမ္ဘာ့အဝန်း၌ တရားလမ်းမှန်သို့ ပို့ဆောင်ခြင်း၊ အကျိုးဖြစ်ထွန်းစေခြင်း၊ အကျိုးယုတ်စေခြင်းများသည်လည်း ထိုအရှင်မြတ်၏ လက်တော်၌သာ ရှိပေသည်။ (သို့ဖြစ်ပေရာ ထိုသို့သော အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူသော အလ္လာဟ် အရှင်မြတ်၏ အကာအကွယ်ကို ရယူထားတော်မူသော တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား နစ်နာဆုံးရှုံးစေရန် မည်သူပြုနိုင်တော့အံ့နည်း။)



## တမန်တော်ယူနွတ်စ်ကဏ္ဍ

အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော၊
အစဉ်မပြတ် သနားကြင်နာတော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့်
အစပြုပါ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ○

၁။ *အလာစ်ဖ်၊ လမ်၊ ရာ၊* [၁]

ဤသည် ဉာဏ်ပညာနှင့်ပြည့်စုံသော (ခိုင်မာသော) ကျမ်းတော်မြတ်၏ အာယတ်တော်များပင်တည်း။

الٓرٰ تِلْكَ اٰيٰتُ الْكِتٰبِ الْحَكِيْمِ ①

၂။ ငါအရှင်မြတ်သည် ၎င်းတို့အနက်မှပင် လူတဦး၏ထံသို့ "အသင်သည်လူခပ်သိမ်းတို့အား သတိပေးနှိုးဆော်ပါလေ" ဟူ၍လည်းကောင်း၊ "မုအ်မင်န်သက်ဝင်ယုံကြည်သူတို့အား ထိုသူတို့၏အရှင်မြတ်အထံတော်၌ ထိုသူတို့အဖို့ *မြင့်မြတ်သော အဆင့်အတန်း*[၂] ရှိသည်ဟု သတင်းကောင်းပြောကြားပါလေ" ဟူ၍လည်းကောင်း၊ "ဝဟီ" အမိန့်ဗျာဒိတ်တော် ချပေးတော်မူခြင်းသည် လူတို့၌အံ့သြဖွယ်ဖြစ်နေပါသလော၊[၃] ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့ကမူ (ထိုသူနှင့်ပတ်သက်၍) 'ဤသူကား ထင်ရှားသော စုန်းကဝေအမှန်ပင်ဖြစ်သည်'ဟု ပြောဆိုကြကုန်သတည်း။ [၄]

اَكَانَ لِلنَّاسِ عَجَبًا اَنْ اَوْحَيْنَآ اِلٰى رَجُلٍ مِّنْهُمْ اَنْ اَنْذِرِ النَّاسَ وَبَشِّرِ الَّذِيْنَ اٰمَنُوْٓا اَنَّ لَهُمْ قَدَمَ صِدْقٍ عِنْدَ رَبِّهِمْ قَالَ الْكٰفِرُوْنَ اِنَّ هٰذَا لَسٰحِرٌ مُّبِيْنٌ ②

---

(၁) "အလစ်ဖ်၊လာမ်၊ရာ" ဤကဲ့သို့ အနက်အဓိပ္ပါယ် လျှို့ဝှက်ထားသည့် သင်္ကေတအက္ခရာစုကို "ဟုရူဖ် မုကတ်တွအဟ်" ဟုခေါ်သည်။ "အလစ်ဖ်၊လာမ်၊ရာ" ဟူသော အက္ခရာသည် ကုရ်အာန်ကျမ်းမြတ်တွင် (၅) နေရာ၌ လာရှိသည်။ (ကြည့်-ကုရ်အာန်၊ ၁၀း၁။ ၁၁း၁။ ၁၂း၁။ ၁၄း၁။ ၁၅း၁။)

(၂) "ကဒမဆွစ်ဒ်ကင်န်"၏ အဘိဓာန်အဓိပ္ပါယ်မှာ "မှန်ကန်ခြင်း၏ ခြေ" ဟု ရသည်။ အလိုသဘောမှာ မြင့်မြတ်သော အဆင့်အတန်းဟူ၍ဖြစ်သည်။ ဤသည် တင်စား၍သုံးနှုန်းထားတော် မူခြင်းဖြစ်သည်။

(၃) အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား တမန်တော်မြတ်အဖြစ် စေလွှတ်တော်မူလိုက်သည့်အခါ အရဗ်တို့က ငြင်းဆိုခဲ့ကြ၏။ ယင်းသို့ ငြင်းဆိုသူများအနက် ➤➤

➤➤ အချို့က 'အလ္လာဟ်အရှင်မြတ်သည် မုဟမ္မဒ်ကဲ့သို့သော လူတဦးအား ထိုအရှင်မြတ်၏ တမန်တော်ဖြစ်စေခြင်းထက် အလွန်ကြီးကဲ မြင့်မြတ်တော်မူပေသည်' ဟု ဆိုခဲ့ကြ၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် ဤအာယတ်တော် (၁၀း၂)ကို လည်းကောင်း၊ အာယတ်(၂၁း၇)ကို လည်းကောင်း၊ ထုတ်ပြန်ချမှတ်တော်မူခဲ့၏။

ယင်းကဲ့သို့ အလ္လာဟ်အရှင်မြတ်သည် ထိုအရဗ်တို့အား (တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) တမန်တော်မြတ်ဖြစ်ကြောင်းနှင့် ပတ်သက်၍) အထောက်အထားများကို အကြိမ်ကြိမ် ထုတ်ပြန်တော်မူသည့်အခါ ထိုငြင်းဆိုသော အရဗ်တို့က "အကယ်၍ လူသားတဦးသည် တမန်တော် ဖြစ်ရှိနိုင်ပါသော် (မုဟမ္မဒ်သည် တမန်တော်မြတ် မဖြစ်ထိုက်) မုဟမ္မဒ်မှတပါး အခြားပုဂ္ဂိုလ်များသာ တမန်တော် ပိုမို၍ ဖြစ်ထိုက်ကြသည်။ မြို့ကြီးနှစ်မြို့ရှိ ပုဂ္ဂိုလ်တဦးဦးအပေါ်သို့ ဤကုရ်အာန်သည် အဘယ်ကြောင့် မကျရောက်ခဲ့သနည်း" ဟု ပြောဆိုခဲ့ကြ၏။

ယင်းအရဗ်တို့က "မက္ကာမြို့မှ ဝလီဒ် အစ်ဗ်နုမုဃီရဟ်နှင့် တွာအစ်ဖ်မှ မတ်စ်အူဒ် အစ်ဗ်နု အမ်ရ်ဆကဖီတို့သည် မုဟမ္မဒ်ထက် ပိုမိုမြင့်မြတ်ကြသည်" ဟု ဆိုကြ၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ချေပတော်မူရန်အတွက် "အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ ကရုဏာတော်(တည်းဟူသော နဗီတမန်တော်အဖြစ် ချီးမြှောက်ခြင်း)ကို ၎င်းတို့သည်ပင် ခွဲဝေပေးကြသလော" ဟူသော အာယတ်တော် (၄၃း၃၂)ကို ထုတ်ပြန်ချမှတ်တော်မူလိုက်သည်။

ဤသည့်ကျမ်းချက်ကို သာဝကကြီး အစ်ဗ်နုအဗ္ဗားစ် သခင်ထံမှ တဆင့် ကြားသိရသည်။ ဤသည့်ကျမ်းချက်ကို အစ်ဗ်နုဂျရီရ်၊ အစ်ဗ်နုအဗီဟာတင်မ်၊ အဗူရိုက်ခ်နှင့် အစ်ဗ်နုမရ်ဒူယဟ် တို့ကလည်း အသီးသီး ထုတ်ဖော်ရေးသားထားကြသည်။ (ဒုရ်ရိမန်ဆူရ်၊ စ-၂၉၉-၃၀၀၊ အအ-၃။)

③ အမှန်တရားကို ငြင်းပယ်ကြသော အရဗ်မုရှ်ရစ်က်များသည် တဘက်တွင် "ဝဟီ" နှင့် "နဗုဝါတ်" ကို ငြင်းပယ်ကြ၏။ အခြားတဘက်တွင် ဤပုဂ္ဂိုလ်မွန်၌ ထူးခြားချက်အဖြာဖြာ အမှန်ရှိနေသည်ကိုလည်း တွေ့မြင်ကြ၏။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ယူဆောင်တော်မူလာသည့် ကုရ်အာန်ကျမ်းမြတ်နှင့် စပ်လျဉ်း၍ တမျိုးတဖုံ စကားလှည့်၍ မရသည့် အဆုံး၌ ယင်းအရဗ်မုရှ်ရစ်က်တို့က "ဤပုဂ္ဂိုလ်ကား မှော်ဆရာ၊ ဤကုရ်အာန်ကား မှော်အတတ်ပင်ဖြစ်သည်"ဟု စွပ်စွဲပြောဆိုကြလေတော့သည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် ပတ်သက်၍လည်းကောင်း၊ ကုရ်အာန်ကျမ်းမြတ်နှင့် စပ်လျဉ်း၍လည်းကောင်း၊ အရဗ်မုရှ်ရစ်က်တို့က ဤသို့ စွပ်စွဲပြောဆိုခြင်းသည် ကုရ်အာန်ကျမ်းမြတ်၏ အံ့ဖွယ်သရဲ၊ အနက်၊ အဓိပ္ပါယ်ထက် မျက်စူးရှမှုအတွက် အကြီးဆုံးသော သက်သေတရပ်ပင် ဖြစ်ပေသည်။ ကုရ်အာန်ကျမ်းမြတ်၏ နက်နဲမှု၊ ထက်မြက်မှု၊ စူးရှမှုသည်။ အလွန်ထင်ရှား၏၊ ပေါ်လွင်၏။ ယင်းကျမ်းမြတ်ကို ငြင်းဆန် နေခဲ့ကြသော အရဗ် မုရှ်ရစ်က်များသည် ပင်လျှင် ဤသည့် အချက်ကို မငြင်းဆို နိုင်ကြ၊ မဖုံးကွယ်နိုင်ကြပေ။

သို့မငြင်းနိုင် မဖုံးကွယ်နိုင်သည့်အဆုံး၌ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား မှော်ဆရာဟူ၍လည်းကောင်း၊ ကုရ်အာန်ကျမ်းမြတ်ကို မှော်အတတ်ပညာ ဟူ၍လည်းကောင်း၊ စွပ်စွဲ ပြောဆိုကြပြန်ခြင်း ဖြစ်သည်။

ယင်းသို့ အရဗ်မုရှ်ရစ်က်တို့က စွပ်စွဲပြောဆိုခြင်းမှာ ကုရ်အာန်ကျမ်းမြတ်ကို ၎င်းတို့၏နောက်လိုက်တို့က ယုံကြည်မြတ်နိုးသွားကြမည်ကို စိုးရိမ်မိကြသည့်အတွက် နောက်လိုက်တို့အား လှည့်စားခြင်းဖြစ်သည်။

(အဗူလ်ကလာမ်၊ စ- ၁၄၇၊ အအ- ၂။)

إِنَّ رَبَّكُمُ اللّٰهُ الَّذِي خَلَقَ السَّمٰوٰتِ وَالْأَرْضَ فِي سِتَّةِ أَيَّامٍ ثُمَّ اسْتَوٰى عَلَى الْعَرْشِ يُدَبِّرُ الْأَمْرَ مَا مِنْ شَفِيعٍ إِلَّا مِنْۢ بَعْدِ إِذْنِهِ ذٰلِكُمُ اللّٰهُ رَبُّكُمْ فَاعْبُدُوهُ أَفَلَا تَذَكَّرُونَ ۝٣

၃။ ဧကန်စင်စစ် အသင်တို့အား ဖန်ဆင်းမွေးမြူ
တော်မူသော အရှင်မြတ်သည် အလ္လာဟ်အရှင်မြတ်
ပင်ဖြစ်တော်မူ၏၊ ထိုအရှင်မြတ်သည် မိုးကောင်းကင်
များကိုလည်းကောင်း၊ ပထဝီမြေကို လည်းကောင်း၊
ခြောက်ရက်တွင်ဖန်ဆင်းတော်မူခဲ့လေသည်။ ထို့နောက်
ထိုအရှင်မြတ်သည် "အရ်ရှ်" ပလ္လင်တော် ထက်၌
တည်နေတော်မူခဲ့လေသည်။ ထိုအရှင်မြတ်သည်ပင်
အမှုကိစ္စ အရပ်ရပ်တို့ကို စီမံခန့်ခွဲတော်မူ၏။ ၁

မည်သူမဆို ထိုအရှင်မြတ် ခွင့်ပြုတော်မူပြီး
မှသာလျှင်ကြားဝင်အသနားခံပေးနိုင်မည်ဖြစ်၏။ ၂
ထိုအရှင်မြတ်သည်ပင် အသင်တို့အား ဖန်ဆင်းမွေးမြူ
တော်မူသောအလ္လာဟ်အရှင် ဖြစ်တော်မူပေသည်။
သို့ဖြစ်ပေရာ အသင်တို့သည် ထိုအရှင်မြတ်အား
သာလျှင် ခဝပ်ကိုးကွယ်ကြလေကုန်။ သို့ပါလျက်
အသင်တို့သည် သတိတရား မရရှိကြသေးသလော။

(၁) ဤအာယတ်တော်နှင့် အလားတူ အာယတ်တော်တပါးသည် ကုရ်အာန်(၇း၅၄)တွင် ပါရှိခဲ့ပြီးဖြစ်၏။ ကုရ်အာန်ကျမ်းလာ အာယတ်တော်(၇း၅၄)၏အဖွင့်တွင် (က) မိုးကောင်းကင်များနှင့် ပထဝီမြေကို ဖန်ဆင်းတော်မူခြင်း၏သဘော။ (ခ) မိုးကောင်းကင်များနှင့် ပထဝီမြေကို ၆-ရက်၌ ဖန်ဆင်းတော်မူခြင်း၏သဘော။ (ဂ) "အရ်ရှ်" ပလ္လင်တော်ထက်၌ စံမြန်းတော်မူခြင်း၏သဘော။ (ဃ) "အရ်ရှ်" ၏သဘောများကို အကျယ်ရေးသားခဲ့ပြီးဖြစ်သည်။

(၂) ရှဖာအတ်အကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ်(၂း၄၈)၏ အဖွင့်တွင်လည်းကောင်း၊ ကုရ်အာန်(၆း၅၁)၏ အဖွင့်တွင်လည်းကောင်း၊ အကျယ်ရေးသားခဲ့ပေပြီ။

အလ္လာဟ်အရှင်မြတ်အထံတော်၌ အပြစ်မှချမ်းသာခွင့်ရရှိရန်အတွက် လျှောက်ထားပန်ကြားပေးမည့် ပုဂ္ဂိုလ်ဟူ၍ကား သီးသန့်ဘဦးတယောက်မျှ မရှိပေ။ သို့ရာတွင် အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင်ကပင် မိမိနှစ်သက်သော ကျွန်တဦးတယောက်အား မိမိအလိုတော်ရှိတော်မူသော အခြေအနေများတွင် မိမိအလိုတော်ရှိသမျှ မိမိသတ်မှတ်ထားတော်မူသော နယ်နိမိတ်အတွင်း သူတပါးအား အပြစ်မှချမ်းသာစေရန် လျှောက်ထားပေးခွင့် ပြုတော်မူလိုက ပြုတော်မူနိုင်ပေသည်။ အမှန်စင်စစ် အဓိကပထမ အရေးကြီးသောအချက်မှာ "ရှဖာအတ်" မဟုတ်၊ ရှဖာဟ်ပြုပေးနိုင်ရန်အတွက် "အခွင့်ရရှိခြင်း"သည်သာ အဓိကဖြစ်ချေသည်။

**မင်းန်ဘအ်ဒိ အစ်ဇနိဟီ** "ထိုအရှင်မြတ် ခွင့်ပြုတော်မူပြီးနောက်သော်" ဟူသော စကားကို ထောက်ရှုခြင်းအားဖြင့် အမိန့်အာဏာကို စိုးပိုင်တော်မူသောအရှင်၊ အလိုရှိရာကို လွတ်လပ်စွာ ➤➤

إِلَيْهِ مَرْجِعُكُمْ جَمِيعًا ۖ وَعْدَ اللَّهِ حَقًّا ۚ إِنَّهُ يَبْدَؤُا الْخَلْقَ ثُمَّ يُعِيدُهُ لِيَجْزِيَ الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ بِالْقِسْطِ ۚ وَالَّذِينَ كَفَرُوا لَهُمْ شَرَابٌ مِّنْ حَمِيمٍ وَعَذَابٌ أَلِيمٌ بِمَا كَانُوا يَكْفُرُونَ ۝٤

၄။ ထို အရှင်မြတ် အထံတော်သို့သာလျှင် အသင်တို့အားလုံး (စုရုံးလျက်) ပြန်လည်ရောက်ရှိကြမည်ဖြစ်၏။ (ဤသည်) အလ္လာဟ် အရှင်မြတ် အထံတော်မှ မှန်ကန်စွာကတိပြုတော်မူခြင်းပင် ဖြစ်ပေ၏။ ဧကန်စင်စစ် ထိုအရှင်မြတ်သည်ပင် ဖန်ဆင်းခြင်းခံရသည်များကို ပထမအကြိမ်လည်း စတင်ဖန်ဆင်းတော်မူခဲ့လေသည်။ ထို့နောက် ထိုအရှင်မြတ်သည်ပင်လျှင် ယင်းဖန်ဆင်းခြင်း ခံရသည်များကို တဖန် ပြန်၍ ဖန်ဆင်းတော်မူမည်ဖြစ်သည်။ (ဤသို့ တဖန် ပြန်၍ ဖန်ဆင်းတော်မူခြင်းကား) ထို အရှင်မြတ်သည် အီမာန်သက်ဝင်ယုံကြည်မှု ထားရှိကြသော ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်ကြသောသူတို့အား တရားမျှတစွာဖြင့် အကျိုးပေးတော်မူခြင်းငှာ ဖြစ်ချေသည်။ [၁]

သို့ရာတွင် "ကာဖိရ်" မယုံမကြည် သွေဖည်ငြင်းပယ်သူတို့၌မူကား ၎င်းတို့သည် သွေဖည်ငြင်းပယ်လျက် ရှိခဲ့ကြသောကြောင့် လွန်စွာ ဆူပွက်ပူလောင်သော ရေနွေးကို သောက်သုံးခြင်းသည်လည်းကောင်း၊ နာကျင်ဖွယ်ဖြစ်သောပြစ်ဒဏ်သည်လည်းကောင်း၊ ရှိချေအံ့သတည်း။

➤➤ ချယ်လှယ်နိုင်တော်မူသောအရှင်မှာ အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူကြောင်း ထင်ရှားသိနိုင်ပေသည်။ "ရှဖာဟ်' ပြုခွင့်ပေးခြင်း၊ မပေးခြင်းသည် ထိုအရှင်မြတ်၏လက်တော်၌သာ ရှိပေသည်။

အမိုက်ခေတ် အရဗ်မုရှ်ရစ်ကဲတို့အတွက်လည်း ၎င်းတို့၏ ကိုးကွယ်ရာဒေဝများသည် ၎င်းတို့အား ကယ်တင်ပေးကြလိမ့်မည်၊ ဟူသော ယုံကြည်ချက်သည် အလွန်စွဲမြဲလျက်ရှိပေသည်။

(မာဂျိဒီ၊ အစောင် ၃၊ စ- ၄၃၁၊ အအ- ၅။)

(၁) အလ္လာဟ်အရှင်မြတ်သည် မိုး၊ မြေနှင့်တကွ ကမ္ဘာ့အဝန်းကို ပထမဦးဆုံး စတင်ဖန်ဆင်းတော်မူခဲ့၏။ ထိုအရှင်မြတ်သည်ပင် ထိုအရာအားလုံးတို့ကို တဖန် ပြန်လည်ဖန်ဆင်းတော်မူမည်ဖြစ်၏။ ကမ္ဘာတဝန်းလုံးကို ပထမဦးစွာ စတင်ဖန်ဆင်းတော်မူခဲ့သော အရှင်မြတ်သည် ထိုအရာအားလုံးတို့ကို တဖန် ပြန်လည်ဖန်ဆင်းတော်မူမည်ဆိုရာ၌ ဒွိဟသံသယ ဖြစ်ဖွယ်ရာအကြောင်း အလျင်းမရှိပေ။ ကြည့်-ကုရ်အာန် (၄၆း၃၃။ ➤➤

هُوَ الَّذِي جَعَلَ الشَّمْسَ ضِيَاءً وَالْقَمَرَ نُورًا وَقَدَّرَهُ مَنَازِلَ لِتَعْلَمُوا عَدَدَ السِّنِينَ وَالْحِسَابَ ۚ مَا خَلَقَ اللَّهُ ذَٰلِكَ إِلَّا بِالْحَقِّ ۚ يُفَصِّلُ الْآيَاتِ لِقَوْمٍ يَعْلَمُونَ ⑤

၅။ ထို(အလ္လာဟ်)အရှင်မြတ်သည်ပင်လျှင် နေကို *ထွန်းတောက်စွာလည်းကောင်း၊ လကို လင်းဝင်းစွာ လည်းကောင်း၊* [၁] ပြုလုပ်တော်မူခဲ့သောအရှင် ဖြစ်တော်မူပေသည်။ ထို့ပြင် ထိုအရှင်မြတ်သည် နှစ်များ၏ အရေအတွက်ကိုလည်းကောင်း၊ စာရင်းကိုလည်းကောင်း၊ အသင်တို့ သိနားလည်ကြအံ့သောငှာ၊ ယင်းလစန္ဒာ (သွားလာရန်)စခန်းများကို သတ်မှတ်၍ ပေးတော်မူခဲ့လေသည်။ [၂] အလ္လာဟ်အရှင်မြတ်သည် ဤသည်(တို့)ကို မှန်ကန်သော ရည်ရွယ်ချက်နှင့်သာလျှင် ဖန်ဆင်းတော်မူခဲ့လေသည်။ ထိုအရှင်မြတ်သည် သိနားလည်သူတို့အကျိုးငှာ သက်သေလက္ခဏာရပ်တို့ကို အသေးစိတ် ရှင်းလင်းဖော်ပြတော်မူလေသည်။

➤➤ ၅၀:၁၅။ ၇၅:၁-၁၅။) အမှန်စင်စစ် အရာဝတ္ထုတခုကို ပထမအကြိမ် စတင်ဖန်ဆင်းခြင်းထက် ဒုတိယအကြိမ် ပြန်လည် ဖြစ်ပေါ်စေခြင်းကား ပို၍ပင်လွယ်ကူပေသည်။ (ကြည့်-ကုရ်အာန်-၃၀:၂၇။)

ယင်းသို့ ပြန်လည်ဖန်ဆင်းတော်မူခြင်းမှာ မုအ်မင်န် သူတော်စင်တို့အား တရားသဖြင့် ကောင်းကျိုးပေး၍ ကာဖိရ်သူယုတ်တို့အား ဆိုးကျိုးပေးတော်မူရန်အတွက် ဖြစ်သည်။ ထိုအရှင်မြတ်သည် လူသားတို့အား အကြောင်းမဲ့၊ အကျိုးမဲ့ ဖန်ဆင်းထားတော်မူသည် မဟုတ်ပေ။(ကြည့်-ကုရ်အာန်၊ ၂၃:၁၁၅။ ၃၈:၂၇။)

(၁) ဤအာယတ်တော်တွင် နေ၏ဝိသေသကို 'သွိယာ'ဟူ၍ လည်းကောင်း၊ လ၏ ဝိသေသကို 'နူရ်' ဟူ၍ လည်းကောင်း၊ မိန့်ဆိုသုံးနှုန်းတော်မူထားသည်။ 'သွိယာ' နှင့် 'နူရ်' သည် မည်သို့ခြားနားသနည်း။ ဤတွင် ပညာရှင်များ၏ ယူဆချက်များကို ထုတ်ဖော်ရေးသားလိုပေသည်။

အချို့ပညာရှင်များ၏ ယူဆချက်အရ 'နူရ်' သည် 'သွိယာ' နှင့် နှိုင်းစာလျှင် တသီးတခြားစီ ဖြစ်ရှိသည်။ 'နူရ်' ဟူသည် အလင်းရောင်တိုင်းကို ဆိုနိုင်သည်။ 'သွိယာ' ဟူသည် ပိုမိုလင်းဝင်းသော တောက်ပစူးရှသော အလင်းရောင်ကိုသာ ဆိုနိုင်သည်။

အချို့ပညာရှင်များ၏ ယူဆချက်အရ 'သွိယာ' သည် ကိုယ်ပိုင်ဖြစ်သော၊ မိမိကိုယ်တိုင် ပိုင်ဆိုင်သော အလင်းရောင်ကို ဆိုလိုသည်။ 'နူရ်' သည် အခြားအရာမှတဆင့် ရရှိသော အလင်းရောင်မျိုးကို ဆိုလိုသည်။ နေ၏ အလင်းရောင်သည် အခြားဂြိုဟ်တခုခုမှ ရရှိသော အလင်းရောင်မဟုတ်၊ ကိုယ်ပိုင်ဖြစ်သည်။ လ၏ အလင်းရောင်မှာမူကား နေမှတဆင့် ရရှိသော အလင်းရောင်သာဖြစ်သည်၊ ကိုယ်ပိုင်မဟုတ်။

အချို့သုတေသီများက 'သွိယာ' နှင့် 'နူရ်' ၏ ခြားနားချက်ကို ဖော်ပြရာ၌ မည်သည့် အလင်းရောင်ကိုမဆို 'နူရ်' ဟူ၍ ခေါ်ဆိုနိုင်သည်။ 'သွိယာ' 'သွေ့ာင်အ်' ဟူသည်ကား ပိုမို ပျံ့နှံ့စူးရှသော အလင်းရောင်ကို ဆိုလိုသည်။ နေ၏ အလင်းရောင်သည် ပိုမိုပျံ့နှံ့စူးရှသည့်အတွက် နေ၏အလင်းရောင်ကို 'သွိယာ' ဟူ၍ သုံးနှုန်းထားတော်မူခြင်းဖြစ်သည်။

إِنَّ فِى اخْتِلَافِ الَّيْلِ وَالنَّهَارِ وَمَا خَلَقَ اللّٰهُ فِى السَّمٰوٰتِ وَالْأَرْضِ لَاٰيٰتٍ لِّقَوْمٍ يَّتَّقُوْنَ ⑥

၆။ ဧကန်မလွဲ ညဥ့်နှင့်နေ့တို့၏ ပြောင်းလဲမှု၌လည်းကောင်း၊ မိုးကောင်းကင်များနှင့် ပထဝီမြေတွင် အလ္လာဟ်အရှင်မြတ် ဖန်ဆင်းထားတော်မူသော အရာများ၌ လည်းကောင်း၊ (အလ္လာဟ် အရှင်မြတ်အား) ကြောက်ရွံ့ရှိသေ ခန့်ညားသူတို့ အဖို့ သက်သေလက္ခဏာများသည် ဧကန်မုချ ရှိချေသည်။ [၁]

---

⑵ အလ္လာဟ်အရှင်မြတ်သည် လ,အတွက် သွားလာရာစခန်းများကို သတ်မှတ်ထားတော်မူသည်။

လ,သည် နေ့စဉ်နှင့်အမျှ သေးငယ်သွား၏။ တဖန်ပြည့်လာ၏။ကြည့်-ကုရ်အာန်-၃၆း၃၈-၄၀။

**(Astronomy)** နက္ခတ်တာရာ အတတ်ပညာကို ကျွမ်းကျင်သော ပညာရှင်တို့က လ,သွားလာရန်အတွက် စခန်းပေါင်း (၂၀)သတ်မှတ်ထားကြ၏။ ထိုစခန်းများသည် ဂြိုဟ်(၁၂)ခုတွင် တည်ရှိ၏၊ ကုရ်အာန်ကျမ်းမြတ်တွင်ပါရှိသည့် 'နေ၊ လ ဆိုင်ရာ စခန်းများ' ဟူသည် နက္ခတ်တာရာ အတတ်ပညာ၌ ခေါ်ဝေါ်သုံးစွဲနေသည့် စခန်းများကို ဆိုလိုခြင်းမဟုတ်။ သွားလာလှုပ်ရှားရာ ရိုးရိုးစခန်းများကိုသာ ဆိုလိုသည်။

နှစ်ပရိစ္ဆေဒ၊ လများ၏ အရေအတွက်နှင့် နေ့စဉ်နေ့တိုင်း ပြုလုပ်တွက်ချက်ရသည့် စာရင်းကြီးငယ်အားလုံးတို့သည် နေ၊ လတို့၏ သွားလာမှုနှင့် ဆက်စပ်လျက် ရှိပေသည်။ အကယ်၍ နေနှင့်လ၊ သာမရှိကနေ့၊ ညဥ့်၊ ကမရီလ၊ **(Lunar)** ရှမ်စီလ၊ **(Solar)** နှစ်ပရိစ္ဆေဒ စသည်တို့ကို သတ်မှတ်ရန် မည်သို့ဖြစ်နိုင်တော့အံ့နည်း။ အမှန်မှာ လောကီအသက်ရှင်မှု၊ စားသောက်နေထိုင်မှုဆိုင်ရာ လုပ်ငန်းများအပြင် အစ္စလာမ်တရားတော်လာ မြောက်မြားစွာသော အမိန့်ပညတ်များအတွက်လည်း အချိန်သတ်မှတ်ပိုင်းခြားမှုသည် အရေးကြီးလှပေသည်။ ဂြိုဟ်၊ နက္ခတ်တို့၏ သွားလာလှုပ်ရှားမှုသည် အလိုအလျောက် ဖြစ်ပေါ်နေသည်မဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ အံ့မဆုံးသော စီမံခန့်ခွဲမှုအတိုင်း သွားလာလှုပ်ရှားနေခြင်းသာ ဖြစ်ပေသည်။ ယင်းသို့ ဂြိုဟ်၊ နက္ခတ်များ သွားလာလှုပ်ရှားနေခြင်းအားဖြင့် အသင်္ချေ၊ အသင်္ချာသော အကျိုးကျေးဇူးများ ဖြစ်ပေါ်လျက် ရှိပေသည်။

တွေးဆ၊ ဆင်ခြင်၊ မြော်မြင်နိုင်စွမ်းရှိသော သူများသည် ဤကမ္ဘာစကြာဝဠာကြီး၏ အခြေအနေ၊ အထားအသို၊ အစီအစဉ်နှင့် အရာရာတွင် စနစ်ကျနပုံများကို တွေးဆ ဆင်ခြင်မြော်မြင်ပါက အတိုင်းအဆမရှိသော မဟာအနန္တ တန်ခိုးတော်ရှင် ဖြစ်တော်မူသော အလ္လာဟ် အရှင်မြတ် တည်ရှိတော် မူကြောင်းကို ဆင်ခြင်သိရှိနိုင်ကြပေမည်။ ရုပ်လောက၏ အံ့ဖွယ်သရဲ အစီအစဉ်များကို ထောက်ရှု၍ နာမ်လောက၏ အစီအစဉ်များကို တွေးဆ ဆင်ခြင်နိုင်ကြပေသည်။

အလ္လာဟ်အရှင်မြတ်သည် ရုပ်လောကအတွက် နေ၊ လ စသည်တို့ကို လိုလေသေးမရှိ၊ အပြည့်အစုံဖန်ဆင်းထားတော်မူပေရာ နာမ်လောကတွင်လည်း အလားတူ နေ၊ လ စသည်များကို ဖန်ဆင်းထားတော်မူမည်ပင်ဖြစ်သည်။ နာမ်လောက၏ နေ၊ လ များကို ကျွန်ုပ်တို့သည် တနည်းအားဖြင့် နဗီ၊ ရစူလ်၊ တမန်တော်များဟု ခေါ်ဆိုနိုင်ကြပေသည်။

⑴ ဤအာယတ်တော်နှင့် အနက်သဘောတူ အာယတ်တော်များကို ကုရ်အာန်ကျမ်းတော်မြတ်၌ အများအပြားတွေ့ရှိရသည်။ (ကြည့်-ကုရ်အာန်၊ ၂း၁၆၄။ ၃း၁၈၉-၁၉၀။၁၀း၆။၃၀း၂၂-၂၇။ ၄၅း၃-၆)။

إِنَّ الَّذِينَ لَا يَرْجُونَ لِقَآءَنَا وَرَضُوا بِالْحَيٰوةِ الدُّنْيَا وَاطْمَاَنُّوا بِهَا وَالَّذِينَ هُمْ عَنْ اٰيٰتِنَا غٰفِلُونَ ۝٧

أُولٰٓئِكَ مَأْوٰىهُمُ النَّارُ بِمَا كَانُوا يَكْسِبُونَ ۝٨

၇။ စေကန်အမှန် အကြင်သူတို့သည် ငါအရှင်မြတ်နှင့် တွေ့ဆုံခြင်းကို *မမျှော်လင့်ကြချေ။* ① ထို့ပြင် ၎င်းတို့သည် လောကီဘဝကိုပင်ကျေနပ်၍ ထိုလောကီဘဝနှင့်ပင် နှစ်သိမ့် စိတ်ဝင်စားကာ အာရုံစိုက်၍ နေခဲ့ကြလေသည်။ ၎င်းပြင် အကြင်သူတို့သည် ငါ အရှင်မြတ်၏ သက်သေလက္ခဏာများကို မေ့လျော့၊ လျစ်လျူရှုသူများ ဖြစ်ကြကုန်၏။

၈။ ထိုသူများပင် ၎င်းတို့သည် (ပြစ်မှုဒုစရိုက်များကို) ရှာဖွေ ဆည်းပူးလျက် ရှိခဲ့ကြသောကြောင့် ၎င်းတို့၏ ခိုကိုးရာဌာနသည် "ဂျဟန္နမ်" ငရဲဘုံပင် ဖြစ်လတ္တံ့။

① ရဂျာ ဟူသောပုဒ်သည် ဆန့်ကျင်ဘက် အဓိပ္ပါယ်ပေးသော ပုဒ်များတွင် အပါအဝင်ဖြစ်သည်။ ဤပုဒ်သည် စိုးရိမ်ခြင်းအနက်လည်းပေး၏။ မျှော်လင့်ခြင်းအနက်လည်းပေး၏။ ရိုးရိုး မျှော်လင့်ခြင်းအနက် သက်သက်လည်း ပေး၏။

ကာဖိရ်များသည် နောင်တမလွန်ဘဝ၏အရေးကို မေ့ပျောက်ထားကြသည်၊ နောင်တမလွန်ဘဝ၏ အရေးကို မေ့ပျောက်ထားမှုသည် များသောအားဖြင့် လူသားတို့၏ လမ်းမှားခြင်း၏ ပထမအဆင့်ဖြစ်သည်။ ကာဖိရ်များသည် နောင်တမလွန်ဘဝကို အလျင်းမလိုလားကြပေ၊ မက်လည်းမထားကြပေ၊ ဤပစ္စက္ခဘဝကိုသာ နှစ်သက်စုံမက်နေကြ၏၊ ဤသည် လမ်းမှားခြင်း၏ ဒုတိယအဆင့် ဖြစ်သည်။

ကာဖိရ်များသည် ဤပစ္စက္ခဘဝနှင့် ဤဘဝ၏ စည်းစိမ်များကိုသာ နှစ်သက်ကြရုံမက ဤမျက်မှောက် ဘဝကိုပင် ကျေနပ်နှစ်သိမ့်နေကြ၏၊ စွဲလမ်းတပ်မက်နေကြ၏၊ ဤလောကီ စည်းစိမ်များ၌သာ နစ်မွန်းနေကြ၏၊ နောင်တမလွန်ဘဝကိုမူ လုံးဝမေ့လျော့နေကြ၏၊ ဤသည် လမ်းမှားခြင်း၏ တတိယအဆင့် ဖြစ်သည်။

ပထမတွင် နောင်တမလွန်ဘဝ၏ စည်းစိမ်ချမ်းသာမှုများကို လိုလားတပ်မက်မှုသည် စိတ်တွင်းမှ ပျောက်ကွယ်သွား၏၊ မိမိတို့၏ နောင်တမလွန်အရေးနှင့် သေရမည့်အရေးကိုလည်း မစဉ်းစားကြတော့ဘဲ လောကီစည်းစိမ်များတွင်သာ နစ်မွန်းကာ ထက်အာကာကောင်းကင်မှ သက်ရောက်မည့်ဘေးအန္တရာယ်များကိုပင် မမြင်နိုင်ကြတော့ပေ။ နေ့စဉ်နှင့်အမျှ အမှုမဲ့ အမှတ်မဲ့၊ ပေါ့ပေါ့ဆဆ နေလာကြ၏။ [ ပြန်လည် ရှင်ထရမည်ကို ညွှန်ပြလျက်ရှိသော သက်သေလက္ခဏာတော်များကို လျစ်လျူပြုထားကြ၏။ (ကြည့်-ထာနဝီ) ] စိတ်ဓာတ်ကို တုန်လှုပ်ချောက်ချားစေသည့် မြေငလျင်၊ ရောဂါ၊ စစ်ဘေးစစ်ဒဏ်စသော ကပ်နှင့်ဆိုင်ရာ သက်သေလက္ခဏာများကို ရင်ဆိုင်တွေ့မြင်ကြငြားသော်လည်း သတိသံဝေဂမရကြ၊ ဆိုးမြဲတိုင်းဆိုး၊ မိုက်မြဲတိုင်းမိုက်၍ပင်နေကြ၏။ နောင်တမလွန်အရေးကို စိုးစဉ်းမျှ မတွေးကြတော့ပေ။ ဤသည် လမ်းမှားခြင်း၏ စတုတ္ထအဆင့်ဖြစ်၏။ တနည်းအားဖြင့်ဆိုရလျှင် ဤအဆင့်သည် လမ်းမှားခြင်း၏ နောက်ဆုံးအဆင့်ပင် ဖြစ်သည်။ ➤➤

إِنَّ الَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ يَهْدِيْهِمْ رَبُّهُمْ بِاِيْمَانِهِمْ ۚ تَجْرِيْ مِنْ تَحْتِهِمُ الْاَنْهٰرُ فِيْ جَنّٰتِ النَّعِيْمِ ﴿٩﴾

၉။ ဧကန်စင်စစ် အကြင်သူများသည် သက်ဝင်ယုံကြည်ခဲ့ကြ၏။ ၎င်းပြင် ထိုသူများသည် ကောင်းမြတ်သောအကျင့်သီလများကို ပြုလုပ်ဆောက်တည်ကြ၏၊ ၎င်းတို့အား ၎င်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ၎င်းတို့၏ "အီမာန်" သက်ဝင်ယုံကြည်မှုကြောင့် ချမ်းသာသုခနှင့် ပြည့်စုံသော ဥယျာဉ်များသို့ ပို့ဆောင်တော်မူမည် ဖြစ်သည်၊ ၎င်းတို့(နေထိုင်ရာ)အောက်၌ စမ်းရေချောင်းများ စီးတွေလျက် ရှိပေမည်။

دَعْوٰىهُمْ فِيْهَا سُبْحٰنَكَ اللّٰهُمَّ وَتَحِيَّتُهُمْ فِيْهَا سَلٰمٌ ۚ وَاٰخِرُ دَعْوٰىهُمْ اَنِ الْحَمْدُ لِلّٰهِ رَبِّ الْعٰلَمِيْنَ ﴿١٠﴾

၁၀။ ယင်းသုခဘုံနန်းဥယျာဉ်များတွင် ထိုသူတို့၏ စကားသည် 'အို–အလ္လာဟ်အရှင်မြတ်၊ အရှင်မြတ်သည် သန့်ရှင်းစင်ကြယ်တော်မူပါ၏' ဟူ၍လည်းကောင်း၊ ထိုသူတို့၏နှုတ်ခွန်းဆက်ခြင်းသည် 'စလာမ်' ဟူ၍လည်းကောင်း၊ ထိုသူတို့၏နောက်ဆုံး (နိဂုံးချုပ်) စကားသည် "ချီးမွမ်းထောမနာပြုခြင်းအပေါင်းတို့အား စကြဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်နှင့်သာ အပ်စပ်သည်" ဟူ၍လည်းကောင်း ဖြစ်အံ့သတည်း။ [၁]

---

➤➤ ယခုအခါ အထူးတလည် တိုးတက်လျက်ရှိသော တိုင်းကြီးပြည်ကြီးများတွင် လူများသည် များသောအားဖြင့် နောင်တမလွန်အရေးကို လုံးဝမေ့ပျောက်ကာ ဤပစ္စက္ခမျက်မှောက်ဘဝ၏ လောကီစည်းစိမ်များတွင် လုံးဝနစ်မွန်း၍ နေကြ၏။ ၎င်းတို့၏ အစုအဝေးများတွင် **ဂျန္နတ် ဂျဟန္နမ်၊ ဗရ်ဇခ်** ဟူသော စကားများကိုပင် အလျင်း မကြားလိုကြပေ၊ ဤသို့သောသူများ၏ လားရာဘုံကား **ဂျဟန္နမ်**ပင် ဖြစ်ပေသည်။ ဤအာယတ်တော်တွင် ဤသည့်သဘောကို မိန့်ဆိုထားတော်မူ၏။

(မာဂျိဒီ၊ အစောင်-၃၊ စ-၄၃၃၊ အအ-၁၃-၁၆။)

(၁) ဂျန္နတ် အမတသုခဘုံသို့ ဝင်ရောက်ကြရမည့် ဂျန္နတ်ဘုံသားများသည် ဂျန္နတ်အတွင်းသို့ ရောက်ရှိ၍ အလ္လာဟ်အရှင်မြတ်၏ အံ့မဆုံးနိုင်သည့် ကျေးဇူးတော်များနှင့် ဂျန္နတ်၏ အမတသုခအဝဝကို တွေ့မြင်ကြရသောအခါ 'စွဗ်ဟာနလ္လာဟ်' ဟူ၍ ဝမ်းပမ်းတသာ မြွက်ဆို ကျူးရင့်ကြလိမ့်မည်။

ဂျန္နတ်ဘုံသားများသည် စားဖွယ်သောက်ဖွယ် အသီးအနှံ တစုံတရာကို အာသာဆန္ဒရှိလာကြသည့်အခါ 'စွဗ်ဟာနကလ္လာဟုမ္မ' ဟူ၍ မြွက်ဆိုကြပေမည်၊ ယင်းသို့ မြွက်ဆိုလျှင် မြွက်ဆိုခြင်းပင် ➤➤

وَلَوْ يُعَجِّلُ اللّٰهُ لِلنَّاسِ الشَّرَّ اسْتِعْجَالَهُمْ بِالْخَيْرِ لَقُضِيَ إِلَيْهِمْ أَجَلُهُمْ فَنَذَرُ الَّذِينَ لَا يَرْجُونَ لِقَاءَنَا فِي طُغْيَانِهِمْ يَعْمَهُونَ ⑪

၁၁။ စင်စစ်သော်ကား အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် လူများထံသို့ ၎င်းတို့အကောင်းကို အလျင်စလို ပြုလုပ်ကြဘိသကဲ့သို့ အဆိုးကို ဖြစ်စေတော်မူပါလျှင် (၎င်းတို့အား ပြစ်ဒဏ် ပေးတော်မူရန် ကတိသည် ပြီးဆုံးခန်းသို့ ရောက်ပြီး ဖြစ်ချေအံ့)။ **(တနည်း)** (၎င်းတို့အဖို့ ပိုင်းခြားအပ်သော ကာလအပိုင်းအခြားသည်ကား ဧကန်မလွဲ ပြီးဆုံးခဲ့ပြီး ဖြစ်ချေအံ့။)

သို့ရာတွင် ငါအရှင်မြတ်သည် ငါအရှင်မြတ်နှင့် တွေ့ဆုံခြင်းကို မမျှော်လင့်သူတို့အား ၎င်းတို့၏ ခေါင်းမာမှု၌ပင် တဝေ့လည်လည် ဖြစ်ရှိနေကြရန် စွန့်ပစ်၍ ထားရှိတော်မူပေသတည်း။ ၁

➤➤ ကောင်းကင်တမန်များသည် တမ်းတ,ရာ ပစ္စည်းများကို အသင့်လာရောက်ပေးကြမည်ဖြစ်သည်။

တနည်းဆိုသော် 'စွဗ်ဟာနကလ္လာဟ်ဟွန်းမ္မ' သည် လျှောက်ထားပန်ကြားသည့် ဆုမွန်များအစားအသုံးပြုနိုင်သည့် 'လို တ ရ' 'ကျူးရင့်သံသာ' ပင်ဖြစ်ပေသည်။ (လူ့လောကတွင်လည်း လူကြီးလူကောင်းတို့၏ အိမ်များတွင် ဧည့်သည် တဦးတယောက်က တစုံတရာကို ချီးမွမ်းပြောဆိုလိုက်လျှင် အိမ်ရှင်ဖြစ်သူသည် ထိုပစ္စည်းကို ကြိုးစားရှာဖွေကာ ပေးလေ့ရှိကြသည့် ထုံးတမ်းစဉ်လာ ရှိပေသည်။)

ဤပစ္စက္ခဘဝ၌မွတ်စ်လင်မ်များသည် အချင်းချင်းတွေ့ဆုံကြသောအခါ 'စလာမ်' မေတ္တာပို့သကြသကဲ့သို့ ဂျန္နတ်ဘုံသားများသည် ဂျန္နတ်တွင် အချင်းချင်း တွေ့ဆုံကြသောအခါ 'စလာမ်' မေတ္တာပို့သကြမည်ဖြစ်သည်။ ဂျန္နတ်ဘုံသားတို့အား ကောင်းကင်တမန်များက စလာမ်မေတ္တာ ပို့သကြမည့်အကြောင်းနှင့် ဂျန္နတ်ဘုံသားများထံသို့ အလ္လာဟ်အရှင်မြတ်ထံတော်မှ စလာမ် မေတ္တာလက်ဆောင်တော် ရောက်ရှိမည့်အကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် အတည့်အလင်း ပါရှိပေသည်။ (ကြည့်-ကုရ်အာန် ၁၃း၂၃-၂၄။ ၃၆း၅၈)။

ဂျန္နတ်ဘုံသားများ လူ့လောကတွင် တွေ့ကြုံခံစားခဲ့ရသည့် စိုးရိမ်မှု၊ ပူပန်မှုများ ဂျန္နတ်၌ လုံးဝ ပျောက်ကွယ်သွားပြီး 'စွဗ်ဟာနလ္လာဟ်' ဟူ၍ မြွက်ဆိုရုံမျှဖြင့် အစဉ်ထာဝရ (လို တ ရ) ဖြစ်နေကြပေရာ ၎င်းတို့၏ နောက်ဆုံးကျူးရင့်သံသာမှာ... 'အလ်ဟမ်ဒု လစ်လ္လာဟိ ရဗ်ဗစ်လ်အာလမီးန်' ပင်ဖြစ်ပေမည်။ သဘာဝအရလည်း ဤသို့ပင် ဖြစ်သင့်ပေသည်။

၁ ကုရ်အာန်ကျမ်းတော်မြတ် (၁၀း၇-၈)တွင် အလ္လာဟ်အရှင်မြတ်နှင့် တွေ့ဆုံရမည်ကို မမျှော်လင့်သော၊ လောကီစည်းစိမ်များတွင် နစ်မွန်းနေသော ထိုအရှင်မြတ်၏ နိမိတ်လက္ခဏာတော်များကို လျစ်လျူပြုနေသော သူများ၏ လားရာဘုံသည် ငရဲဘုံပင်ဖြစ်ကြောင်း ပါရှိခဲ့၏။ ယခု ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် ယင်းသို့သော ပြစ်မှုကျူးလွန်သူများအား ဤပစ္စက္ခမျက်မှောက်ဘဝ၌ ရုတ်တရက်ချက်ချင်း ➤➤

(တနည်း)

ငင်းပြင် အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည်လူများထံသို့ ၎င်းတို့အကောင်းကို အလျင်အမြန်တောင်းဆိုသကဲ့သို့ အဆိုးကို ပို့ဆောင်(သက်ရောက်)စေတော်မူပါလျှင် ၎င်းတို့၏ သက်တမ်းသည် မုချအဆုံးသတ်ပြီး ဖြစ်ချေမည်။

သို့ရာတွင် ငါအရှင်မြတ်သည် ငါအရှင်မြတ်နှင့်တွေ့ရမည်ကို မမျှော်လင့်သောသူများအား ၎င်းတို့၏ မောက်မာဆိုးသွမ်းမှု၌ တဝဲလည်လည် ဖြစ်ရှိနေကြရန် စွန့်ပစ်၍ ထားတော်မူသည်။

၁၂။ သို့ရာတွင် လူသား၌ ဘေးဒုက္ခ (အချို့) ဆိုက်ရောက်လာသောအခါ ၎င်းသည် ငါအရှင်မြတ်အား လဲလျောင်းလျက်ဖြစ်စေ၊ ထိုင်လျက်ဖြစ်စေ မတ်တတ်ရပ်လျက်ဖြစ်စေ ဟစ်ခေါ်လေတော့၏။

وَإِذَا مَسَّ الْإِنسَانَ الضُّرُّ دَعَانَا لِجَنبِهِ أَوْ قَاعِدًا

➤➤ ပြစ်ဒဏ်ပေးတော်မမူသေးဘဲ ခေတ္တဆိုင်းငံ့ထားတော်မူကြောင်း မိန့်ဆိုထားတော်မူသည်။ အမှန်မှာ လူများသည် တစ်ခါတစ်ရံ အရှက်အကြောက်ကင်းမဲ့ပြီး မိမိတို့အပေါ်သို့ပင် ပြစ်ဒဏ်အမြန် သက်ရောက်ရန် တောင်းဆိုကြသည်။ (ကြည့်-ကုရ်အာန် ၈:၃၁) တစ်ခါတစ်ရံ အချို့လူများသည် လောကီ ဒုက္ခများ ခံစားရ၍ မချိမဆန့် ဖြစ်ကြသောအခါ မိမိတို့နှင့် ပတ်သက်၍သော် လည်းကောင်း၊ မိမိတို့၏ သားသမီးများနှင့် ပတ်သက်၍သော် လည်းကောင်း၊ အ,မင်္ဂလာ မကောင်းသော ဆုတောင်းပတ္ထနာများကိုပင် ပန်ကြားကြလေသည်။ ဤသည် မျက်မြင်ကိစ္စပင် ဖြစ်ပေသည်။

အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ တောင်းဆို ပန်ကြားကြသည့်အတိုင်း မကောင်းသက်ရောက်မှုကို ၎င်းတို့ အမြန်လိုလားကြသကဲ့သို့ ပြစ်ဒဏ် တစုံတရာကိုသော်လည်းကောင်း၊ အဆိုးတစ်ရပ်ရပ်ကိုသော်လည်းကောင်း၊ မဆိုင်းမတွဘဲ ရုတ်တရက် ချက်ချင်း သက်ရောက်စေတော်မူပါလျှင် ၎င်းတို့သည် မိမိတို့၏ဆိုးသွမ်းမှုများအတွက် ပြစ်ဒဏ်များကို ခံစားခြင်းမှ တစ်မိနစ်မျှပင် လွတ်လပ်ခွင့်ရရှိမည်မဟုတ်ပေ။ ထိုအချိန်မှာပင် ၎င်းတို့၏ အသက်ရှင်နေမှုသည် ရပ်စဲသွားပေမည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် အကောင်းအဆိုးနှင့် စပ်လျဉ်း၍ အကြောင်းအားလျော်စွာ အချိန်ဆွဲထားတော်မူလေ့ရှိသည်၊ ယင်းသို့ အချိန်ဆွဲထားတော်မူခြင်းအားဖြင့် သူတော်စင်များသည် ကောင်းမှုများကို ပိုမိုပွားများနိုင်ကြပေသည်၊ သူယုတ်တို့မှုကား (သတိ၊ သံဝေဂ၊ နောင်တ ရရှိနိုင်ကြပေသည်၊ သို့မဟုတ်မူ) မောက်မာ၊ ဆိုးသွမ်းမှုများတွင် နစ်မွန်းကာ လမ်းဆုံးအထိ ဆိုးမိုက်ကြမည် သာတည်း။

أَوْ قَآئِمًا ۚ فَلَمَّا كَشَفْنَا عَنْهُ ضُرَّهُۥ مَرَّ كَأَن لَّمْ يَدْعُنَآ إِلَىٰ ضُرٍّ مَّسَّهُۥ ۚ كَذَٰلِكَ زُيِّنَ لِلْمُسْرِفِينَ مَا كَانُوا۟ يَعْمَلُونَ ﴿١٢﴾

တဖန် ငါအရှင်မြတ်သည် ၎င်း၏ဘေးဒုက္ခကို ကင်းဝေးပပျောက်စေတော်မူခဲ့သည်ရှိသော် ၎င်းသည် ငါအရှင်မြတ်အား မိမိ၌ ဆိုက်ရောက်ခဲ့သောဘေးဒုက္ခအတွက် (တစ်ကြိမ်တစ်ခါမျှ) ဟစ်ခေါ်ခြင်း မပြုခဲ့ဘိသကဲ့သို့ပင် ဖြစ်သွားပြန်၏။ [၁] ဤကဲ့သို့ပင် စည်းမဲ့ကမ်းမဲ့ ပြုလုပ်သော သူတို့အမြင်၌ ၎င်းတို့ပြုလုပ်လျက် ရှိခဲ့သည်များသည် လှပတင့်တယ်စွာ တွေ့မြင်ရလေသတည်း။

وَلَقَدْ أَهْلَكْنَا ٱلْقُرُونَ مِن قَبْلِكُمْ لَمَّا ظَلَمُوا۟ ۙ وَجَآءَتْهُمْ رُسُلُهُم بِٱلْبَيِّنَٰتِ وَمَا كَانُوا۟ لِيُؤْمِنُوا۟ ۚ كَذَٰلِكَ نَجْزِى ٱلْقَوْمَ ٱلْمُجْرِمِينَ ﴿١٣﴾

**၁၃။** ထို့ပြင် ဧကန်မလွဲ ငါ အရှင်မြတ်သည် အသင်တို့အလျင် (များစွာသော) အမျိုးနွယ်များကို ၎င်းတို့ မတော်မတရား ကျူးလွန်ခဲ့ကြသောအခါ ဖျက်ဆီးတော်မူခဲ့လေသည်၊ အမှန်စင်စစ်သော်ကား ၎င်းတို့ထံ ၎င်းတို့၏ ရစူလ်တမန်တော်များသည် ထင်ရှားလှစွာသောသက်သေ၊ လက္ခဏာတော်များကို ယူဆောင်လာခဲ့ကြကုန်၏။ စင်စစ်သော်ကား ၎င်းတို့သည် သက်ဝင်ယုံကြည်ကြမည့်သူများမဟုတ်ကြချေ။ ငါ အရှင်မြတ်သည် ပြစ်မှု ကျူးလွန်သူတို့အား ဤကဲ့သို့ပင် အစားပေးတော်မူလေသည်။

(၁) အချို့လူများသည် ပထမသော် အရှက်အကြောက် ကင်းမဲ့စွာဖြင့် မိမိကိုယ်တိုင်ပင် မိမိအပေါ်သို့ ပြစ်ဒဏ်သက်ရောက်စေရန် တောင်းဆို၏။ ဒုက္ခတရပ်ရပ်ကို မိမိကိုယ်တိုင် မိမိ၏နှုတ်လျှာဖြင့် ပန်ကြား၏။ သို့ရာတွင် ထိုသူများသည် သတ္တိလည်း အလွန်ကြောင်၏၊ သူရဲဘောလည်း အလွန်မျှနည်း၏။ အဘယ်ကြောင့်ဆိုသော် အနည်းငယ် ဒုက္ခရောက်လျှင် တုန်လှုပ်ချောက်ချားပြီး အလ္လာဟ်အရှင်မြတ်အား ဟစ်ခေါ်တမ်းတ၏၊ မိမိကိုယ်တိုင် ဆည်းကပ်ကိုးကွယ်ရာ အဖြစ် ပြုလုပ်ထားသည့် ကိုးကွယ်ရာများကိုမူကား မေ့ပျောက်သွား၏။ (ကြည့်-ကုရ်အာန် ၁၇:၆၇) ဒုက္ခတွေ့နေသည်နှင့်အမျှ အလ္လာဟ်အရှင်မြတ်အား လဲလျောင်းလျက်၊ ထိုင်လျက်၊ မတ်တတ်ရပ်လျက် အချိန်အခါမရွေး ဟစ်ခေါ်တ,သလျက်နေ၏။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ကျေးဇူးတော်ဖြင့် ထိုသူများ၏ ဒုက္ခကို ကင်းဝေး ပပျောက်စေတော်မူလိုက်သည့်အခါ ထိုသူများသည် မိမိတို့၏ဒုက္ခများနှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်အား တကြိမ်တခါမျှ မတမ်းတ, မဟစ်ခေါ်ခဲ့ကြဘူးသည့်အလား အမေ့ကြီး မေ့သွားကြပြီး ယခင်မူလပထမအတိုင်းပင် မောက်မာဆိုးသွမ်းသွားကြပြန်သည်။ ကျေးဇူးတော်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အား အမေ့ကြီး မေ့သွားကြပြန်သည်။ ➤➤

ثُمَّ جَعَلْنٰكُمْ خَلٰٓئِفَ فِى الْاَرْضِ مِنْۢ بَعْدِهِمْ لِنَنْظُرَ كَيْفَ تَعْمَلُوْنَ ﴿١٤﴾

၁၄။ ထို့နောက် ငါအရှင်မြတ်သည် ၎င်းတို့၏ နောက်တွင် အသင်တို့ မည်သို့ပြုလုပ်ကြသည်ကို ကြည့်ရှုတော်မူရန် အသင်တို့အား ကမ္ဘာမြေပြင်ဝယ် ကိုယ်စားလှယ်များ ပြုလုပ်တော်မူသည်။ ၁

➤➤ လူ၏ ဤသည့်သဘောကို ထောက်ရှုကာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က "အသင်သည် အေးချမ်းသာယာသောအခါ၌ အလ္လာဟ်အရှင်မြတ်အား အောက်မေ့ တ,သ သတိရလျှင် ထိုအရှင်မြတ်သည် အသင်ဒုက္ခရောက်သည့်အခါ အသင့်အား အမှတ်ရတော်မူမည်ဖြစ်သည်" ဟူ၍ ဩဝါဒပေးတော်မူခဲ့လေသည်။ မုအ်မင်န်များသည် မည်သည့်အခါ၌မျှ အလ္လာဟ်အရှင်မြတ်အား မမေ့အပ်ပေ၊ ဒုက္ခရောက်လျှင် မိမိစိတ်ကို ချုပ်တီးခြင်း၊ သုခရောက်လျှင် အလ္လာဟ်အရှင်မြတ်အား ကျေးဇူးတင်ခြင်းသည်ကား မုအ်မင်န်များ၏ ထူးခြားသည့် ဂုဏ်ရည်တရပ်ပင်တည်း။

(၁) အထက်ပါအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် အတိတ်ခေတ်၌ လူမျိုးအသီးသီးထံသို့ နဗီတမန်တော်များကို သက်သေ လက္ခဏာတော်အပြည့်အစုံနှင့် စေလွှတ်တော်မူခဲ့ပါလျက်၊ ယင်းလူမျိုးတို့အနက် နဗီတမန်တော်များအား မရိုမသေ၊ မလေးမစား၊ မခန့်မညား ပြုလုပ်၍ ကုဖ်ရ်၊ ရှရစ်က်အမှုများတွင် နစ်မွန်းနေခဲ့သူတို့အား ဖျက်ဆီးတော်မူခဲ့သည့်အကြောင်း ပါရှိ၏။ ယခု ဤအာယတ်တော်တွင် ထိုသို့ဖျက်ဆီးခြင်း ခံရသူများ မရှိတော့သည့်နောက် ကမ္ဘာမြေပြင်၌ အသင်တို့အား ကိုယ်စားလှယ်တော်များအဖြစ် နေရာချပေး ထားတော်မူသည့်အကြောင်း၊ ယင်းသို့ နေရာချပေးထားတော်မူခြင်းမှာ အသင်တို့သည် အတိတ်ခေတ်တွင် ဖျက်ဆီးခြင်းခံကြရသည့် သူယုတ်မာများကဲ့သို့ပင် ကုဖ်ရ်၊ ရှစ်ရက် အမှုများတွင် နစ်မွန်း၍နေကြမည်၊ သို့တည်းမဟုတ် တဆူတည်းဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အား'အီမာန်' ယုံကြည်၍ ထိုအရှင်မြတ်၏ အမိန့်ပညတ်တော်များနှင့်အညီ လိုက်နာကျင့်သုံးကြမည်ကို မျက်ဝါးထင်ထင် ရှုမြင်တော်မူရန်အလို့ငှာ ဖြစ်ကြောင်း မိန့်ဆိုထားတော် မူသည်။

ဆိုလိုသည်ကား အသင်တို့သည် အတိတ်ခေတ်ရှိ သူယုတ်တို့၏ လမ်းစဉ်ကို လိုက်နာကျင့်သုံးပါက ၎င်းတို့ကဲ့သို့ပင် နှစ်ဘဝလုံး၌ ပျက်စီးဆုံးရှုံးကြရပေမည်။ ယင်းသို့မဟုတ်ဘဲ ၎င်းတို့၏ အပြစ်များမှ သင်ခန်းစာယူ၍ ၎င်းတို့၏လမ်းစဉ်ကို မလိုက်နာ မကျင့်သုံးဘဲ အလ္လာဟ် အရှင်မြတ်အား ယုံကြည်၍ ထိုအရှင်မြတ်၏ တရားဒေသနာတော်များကို လိုက်နာကျင့်သုံးကြပါလျှင် မုအ်မင်န် သူတော်စင်ကဲ့သို့ နှစ်ဘဝလုံးတွင် အောင်မြင်ကြပေမည် ဟူ၏။

(ဤအာယတ်တော်နှင့်စပ်လျဉ်း၍) သာဝကကြီး ဟဇရတ်အုမရ် (ရဒွေယလ္လာဟို တအလာအန်ဟု) က ထုတ်ဖော်မြွက်ကြားခဲ့သည်မှာ "ကျွန်ုပ်တို့၏ အရှင်သခင်သည် အမှန်ကို မိန့်ကြားတော်မူသည်၊ ကျွန်ုပ်တို့ အား ကိုယ်စားလှယ်တော်များအဖြစ် နေရာချပေးတော်မူခြင်းမှာ ကျွန်ုပ်တို့ မည်သို့မည်ပုံပြုလုပ်ကြသည် များကို ရှုမြင်တော်မူရန်အတွက်သာလျှင် ဖြစ်သည်၊ သို့ဖြစ်ပေရာ အသင်တို့သည် နေ့တွင်လည်းကောင်း၊ ညဉ့်တွင်လည်းကောင်း၊ မျက်ကွယ်ရာတွင်လည်းကောင်း၊ မျက်မှောက်တွင်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အား မိမိတို့၏ ကောင်းမွန်သော အပြုအမူများကို ထုတ်ဖော်ပြသကြ ကုန်လော့၊"

အစ်ဗ်နုဂျရီရ်၊ အစောင် ၁၁၊ စ- ၆၇။

وَإِذَا تُتْلَىٰ عَلَيْهِمْ آيَاتُنَا بَيِّنَاتٍ ۙ قَالَ الَّذِينَ لَا يَرْجُونَ لِقَاءَنَا ائْتِ بِقُرْآنٍ غَيْرِ هَٰذَا أَوْ بَدِّلْهُ ۚ قُلْ مَا يَكُونُ لِي أَنْ أُبَدِّلَهُ مِنْ تِلْقَاءِ نَفْسِي ۖ إِنْ أَتَّبِعُ إِلَّا مَا يُوحَىٰ إِلَيَّ ۖ إِنِّي أَخَافُ إِنْ عَصَيْتُ رَبِّي عَذَابَ يَوْمٍ عَظِيمٍ ⑮

၁၅။ ၎င်းပြင် ထိုသူတို့ရှေ့ဝယ် ငါ အရှင်မြတ်၏ ထင်ရှားလှစွာသော အာယတ်တော်များကို ဖတ်ကြားခဲ့သောအခါ၊ ငါအရှင်မြတ်နှင့်တွေ့ဆုံရန် မမျှော်လင့်သောသူတို့က "အသင်သည် ဤမှတပါး အခြားကုရ်အာန်ကိုယူခဲ့ပါလေ၊ သို့တည်းမဟုတ် ဤသည်ကိုပင် ပြောင်းလဲ၍ပေးပါလေ" ဟုပြောဆိုကြကုန်၏။

အသင်သည်(၎င်းတို့အား ဤသို့) ပြောကြားပါလေ၊ (အချင်းတို့)ငါ၏အဖို့ ဤကုရ်အာန်၌ မိမိ၏စိတ်အလိုအလျောက် ပြောင်းလဲခွင့်မရှိချေ၊ ငါသည် မိမိထံ ညွှန်ကြားခြင်းခံရသော အမိန့်ကိုသာ လိုက်နာ၏။ အကယ်၍ ငါသည် မိမိအရှင်မြတ်၏ အမိန့်တော်ကိုဖီဆန်မိပါလျှင် ကြီးကျယ်သော (ကိယာမတ်)နေ့၏အပြစ်ဒဏ်ကို ငါစိုးရိမ်မိသည်။ [၁]

---

(၁) ကာဖိရ်များသည် ယေဘုယျအားဖြင့် ကုရ်အာန်ကျမ်းလာ အဆုံးအမဩဝါဒများကိုကား ကြိုက်နှစ်သက်ကြ၏။ သို့ရာတွင် ရုပ်တုကိုးကွယ်မှု၊ သီးသန့်ယုံကြည်မှု၊ သီးသန့် ထုံးတမ်းစဉ်လာများကို ပယ်ဖျက်သော ကုရ်အာန်ကျမ်းလာ အာယတ်တော်များကိုမူ မနှစ်သက်ကြပေ။ ထိုသို့သော အာယတ်တော်များကို ကြားကြရသောအခါ စိုးရိမ်ကြသည်၊ နှာခေါင်းရှုံ့ကြသည်၊ မျက်စိမျက်နှာ ပျက်ကြသည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား အသင်သည် မိမိအရှင်သခင်ထံ တင်ပြကာ ဤကုရ်အာန်အပြင် ကျွန်ုပ်တို့နှင့် ဆန့်ကျင်သည့် အကြောင်းများ မပါရှိသော အခြားကုရ်အာန်ကို ယူခဲ့ပါ၊ သို့မဟုတ် ဤကုရ်အာန်ကျမ်းသာ တည်ရှိနေရမည် ဆိုပါက ဤကုရ်အာန်ကျမ်း၌ ကျွန်ုပ်တို့၏ ယုံကြည်ကိုးကွယ်မှု၊ ထုံးတမ်းစဉ်လာများနှင့် ဆန့်ကျင်သည့် အစိတ်အပိုင်းများကို တစ်မျိုးတစ်ဖုံ ပြုပြင်ပြောင်းလွဲပေးပါ' ဟု တောင်းဆိုကြလေသည်။

တမန်တော်မြတ်(ဆွာလ္လာလ္လဟု အလိုင်ဟိဝစလ္လမ်)အား ကာဖိရ်များက ယင်းသို့ပြောဆိုခြင်းမှာ ၎င်းတို့အဖို့ မထူးဆန်းပေ။ အဘယ်ကြောင့်ဆိုသော် ၎င်းတို့ကိုယ်တိုင်ကပင် ၎င်းတို့၏ ရုပ်လုံးရုပ်တုများအား အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များကို ခွဲဝေပေးထားကြရုံမက၊ "နဗီတမန်တော် တစ်ပါး၌ ကျမ်းဂန်လာ တရားဒေသနာတော်များကို မိမိစိတ်သဘောအတိုင်း စီရင်ပိုင်ခွင့်၊ ပြုပြင်ပြောင်းလွဲပိုင်ခွင့်၊ နုတ်ပယ်ပိုင်ခွင့်၊ ဖြည့်စွက်ပိုင်ခွင့် ရှိသည်" ဟူ၍လည်း မှတ်ထင်ယူဆထားကြသည်။ သို့တည်းမဟုတ် ကာဖိရ်များက တမန်တော်မြတ်(ဆွာလ္လာလ္လဟု အလိုင်ဟိဝစလ္လမ်)အား သက်သက် ပြက်ချော်လှောင်ပြောင်သည့် သဘောမျိုးဖြင့် ယင်းသို့ ပြောဆိုခြင်းလည်း ဖြစ်နိုင်ပေသည်။ မည်သို့ပင်ဖြစ်စေ ယင်းကာဖိရ်များ၏ ပြောဆိုခြင်းနှင့် စပ်လျဉ်း၍ ရှေ့အာယတ်တော်တွင် အတိအကျ ဖြေကြားထားတော်မူသည်။ 

قُلْ لَّوْ شَآءَ اللّٰهُ مَا تَلَوْتُهٗ عَلَيْكُمْ وَلَآ اَدْرٰىكُمْ بِهٖ ۖ فَقَدْ لَبِثْتُ فِيْكُمْ عُمُرًا مِّنْ قَبْلِهٖ ؕ اَفَلَا تَعْقِلُوْنَ ﴿١٦﴾

၁၆။ (အို-နဗီတမန်တော်)အသင်သည် (၎င်းတို့အား ဤသို့) ပြောကြားပါလေ။ (ဟယ်-အချင်းတို့) "အကယ်၍ အလ္လာဟ်အရှင်မြတ်သည် (ဤအတိုင်း) အလိုရှိတော် မူခဲ့ပါလျှင် ငါသည်လည်း ထို(ကုရ်အာန်)ကို အသင်တို့ရှေ့ဝယ် ဖတ်ကြားနိုင်မည်မဟုတ်။ ထိုအရှင်မြတ်သည်လည်း အသင်တို့အား ယင်း(ကုရ်အာန်)နှင့် စပ်လျှင်း၍ အသိပေးတော်မူမည်မဟုတ်။ တဖန်ကေန်စင်စစ် ငါသည် ထို(ကုရ်အာန်မကျရောက်မီ)အလျှင်ကလည်း *အသင်တို့အထဲတွင် တစ်သက်တာမျှ နေခဲ့ပြီးဖြစ်ပေသည်။* [၁] သို့ပါလျက် အသင်တို့သည် နားမလည်ကြလေသလော"

>> အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ်ထားတော်မူသည့် ကျမ်းဂန်များတွင် အနည်းငယ် စိုးစဉ်မျှပင် တစ်မျိုးတစ်ဖုံ ပြုပြင်ပြောင်းလွဲခြင်း၊ နုတ်ပယ်၊ ဖြည့်စွက်ခြင်းသည် မည်သည့် ကောင်းကင်တမန်နှင့် မည်သည့် နဗီတမန်တော်၏အလုပ်မျှ မဟုတ်ချေ။ ယင်းသို့လုပ်ခဲ့ကြသည်လည်း အလျှင်းမရှိ၊ လုပ်ပိုင်ခွင့်လည်း အလျှင်းမရှိ၊ လုပ်နိုင်သည်လည်း အလျှင်းမရှိ။ နဗီတမန်တော်များ၏ အဓိကတာဝန်မှာ မိမိတို့ထံသို့ အလ္လာဟ်အရှင်မြတ်ထံမှ ထုတ်ပြန် ချမှတ်တော်မူသည့် အမိန့်တော်များကို အပိုအလို မရှိ၊ စ၊ လယ်၊ ဆုံး၊ သုံးပါးလုံးကို အတိအကျ၊ အပြည့်အစုံ လိုက်နာရခြင်းပင် ဖြစ်သည်။ နဗီတမန်တော်များသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို နာခံကြရသည်။ အလ္လာဟ်အရှင်မြတ်မှာမူ နဗီတမန်တော်များ၏အမိန့်ကို နာခံတော်မူရသည် မဟုတ်။ သို့ဖြစ်ပေရာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကာဖိရ်များ တောင်းဆိုကြသကဲ့သို့ ၎င်းတို့၏အလိုကျ ကျမ်းဂန်သစ်များ မည်သို့ ယူဆောင်နိုင်ပါမည်နည်း။ ကျမ်းဂန်များတွင် မိမိသဘောအတိုင်း အသို့လျှင် ပြုပြင်ပြောင်းလွဲနိုင်ပါအံ့နည်း။ ကျမ်းဂန်များတွင် အနည်းငယ်၊ စိုးစဉ်မျှပင် နုတ်ပယ်၊ ဖြည့်စွက်ပြောင်းလွဲခြင်းသည် အလွန်ကြီးမားသော အပြစ်ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်အား အထူးတလည် ကြောက်ရွံ့ရှိသေ ခန့်ညားကြသော တမန်တော်များသည် ထိုကြီးမားသော အပြစ်ကို ကျူးလွန်ရန် ဝေးစွ၊ ထိုအပြစ်၏အနီးသို့ပင် ချဉ်းကပ်ကြမည် မဟုတ်ပေ။

"ကျွန်ုပ်သည် မိမိအရှင်သခင်အား သွေဖည်ငြင်းဆန်မိခဲ့ပါလျှင် အလွန်ကြီးကျယ်သော ကိယာမတ်နေ့၏အပြစ်ဒဏ်ကို ကြောက်ပါသည်" ဟု ဝန်ခံ မိန့်ကြားထားတော်မူခြင်းကား တစ်နည်းအားဖြင့် မပြောသင့်၊ မပြောအပ်၊ မတောင်းသင့်၊ မတောင်းအပ်သောအရာကို ပြောဆိုတောင်းခံနေကြသော ကာဖိရ်များအား သွယ်ဝိုက်၍ ဆုံးမထားတော်မူခြင်းပင် ဖြစ်ပေသည်။ ဆိုလိုသည်ကား-ဤသို့သွေဖည်ငြင်းဆန် မနာခံကြသည့်အတွက် 'အို-ကာဖိရ်အပေါင်းတို့ အသင်တို့သည်သာလျှင် အလွန်ကြီးကျယ်သော ကိယာမတ်နေ့၏ပြစ်ဒဏ်ကို အထူးပင် ကြောက်ရွံ့သင့်ပေသည်' ဟူ၍။

(၁) အရဗ်ကာဖိရ်များက တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား လက်ရှိကုရ်အာန်အစား >>

➤➤ အခြား ကုရ်အာန်တစောင် ယူခဲ့ရန် သို့မဟုတ် ဤကုရ်အာန်၌ပင် တမျိုးတဖုံ နုတ်ပယ် ဖြည့်စွက်ပြုပြင် ပြောင်းလွဲပေးပါရန် ပြောဆိုခဲ့ကြ၏။ ယင်းသို့ ပြောဆိုခဲ့ကြခြင်းမှာ ကုရ်အာန်သည် အခြားမဟုတ်၊ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ကိုယ်တော်တိုင် စီစဉ်ဖန်ဆင်းထားတော်မူသော ကျမ်းစာ ဖြစ်သည်ဟူ၍ ယူဆခဲ့ကြခြင်းကြောင့်ပင် ဖြစ်သည်။ ဤသို့ ယူဆခြင်းသည် အလျင်း မဟုတ်မမှန်ကြောင်း၊ ကုရ်အာန်သည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များသာလျှင် ဖြစ်ကြောင်းကို ဤအာယတ်တော်တွင် ဖြေကြားထားတော်မူသည်။ ဖြေကြားထားတော်မူချက်၏ အကျဉ်းသဘောမှာ ...

(၁) (အို-ကာဖိရ်အပေါင်းတို့) ကျွန်ုပ်(မုဟမ္မဒ်)သည် အသက် ၄၀၊ ၄၅-နှစ်တိုင်တိုင် အသင်တို့၏ မျက်စိအောက်တွင် နေထိုင်လာခဲ့သည်။ ကျွန်ုပ်၏ သစ္စာရှိမှု၊ သမာဓိရှိမှု၊ မှန်ကန်မှု၊ ရိုးသားဖြောင့်မတ်မှုများကို အသင်တို့ကိုယ်တိုင် သိကြသည်။ ဤသက်တမ်း တလျှောက်လုံးတွင် တကြိမ်တခါမျှ တစုံတရာ တခုခုသော သာမန်အသေးအဖွဲ ကိစ္စနှင့်စပ်လျဉ်း၍ပင် ကျွန်ုပ်သည် မဟုတ်မမှန် လိမ်လည်ပြုလုပ် ပြောဆိုခဲ့ဖူးသည်ဟူ၍ အသင်တို့ ကြားဖူး တွေ့ဖူးကြသလော၊ အမှန်စင်စစ် အသင်တို့ ဤသို့ အလျင်းမကြားဘူး မတွေ့ဘူးကြပေ။ သို့ဖြစ်လျှင် ကျွန်ုပ်သည် မိမိ၏စကားများကို အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များ ဖြစ်သည်ဟူ၍ အလွန်ကြီးမားလှသော လိမ်လည်မှုကြီးကို အသို့လျှင် ကျူးလွန်ဝံ့အံ့နည်း၊ အသင်တို့သည် ဤသည့် မဖြစ်နိုင်သော အချက်ကို ဖြစ်ကောင်းဖြစ်ပေမည်ဟူ၍ အသို့လျှင် လက်ခံနေကြသနည်း။

(၂) ကျွန်ုပ်သည် မိမိ၏သက်တမ်းအနက် နှစ်ပရိစ္ဆေဒ အမြောက်အမြားမှာ အသင်တို့နှင့်အတူပင် နေထိုင်ကြီးပြင်းလာခဲ့သည်။ အသင်တို့သည် ကျွန်ုပ်၏ စိတ်နေသဘောထား၊ ကျွန်ုပ်၏ အကျင့်စာရိတ္တ၊ အတွင်းအပြင် အားလုံးသိရှိကြသည်။ အသင်တို့သည် ကျွန်ုပ်၏စကား၊ ကျွန်ုပ်၏အာဘော်၊ ကျွန်ုပ်၏ အပြောအဆို၊ ကျွန်ုပ်၏အသုံးအနှုန်း အားလုံးကို ကောင်းစွာ သိကြသည်ဖြစ်ရာ အသင်တို့သည် ကျွန်ုပ်ပြောဆို သုံးနှုန်းလေ့ရှိသော စကားများနှင့် ကုရ်အာန်ကျမ်းလာ အာယတ်တော်များတွင် ခြားနားချက် တစုံတရာ မတွေ့မြင်ကြလေသလော။ ကုရ်အာန်ကျမ်းလာ အာယတ်တော်များနှင့် တူသော စကားဟူ၍ အလျင်းမရှိသဖြင့် အကယ်တန္တု ကျွန်ုပ်သည် ကုရ်အာန်ကျမ်းမြတ်ကဲ့သို့ ပြုလုပ်ပြောဆိုရန် ဆန္ဒရှိသည့်တိုင်အောင်လည်း ကုရ်အာန်ကျမ်းမြတ်ကဲ့သို့ အသို့လျှင် ပြုစွမ်းနိုင်အံ့နည်း။ ကျွန်ုပ်သည် မိမိသက်တမ်း တလျှောက်လုံးတွင် အသင်တို့ရှေ့မှောက်၌ စကားအမြောက်အမြား ပြောကြားခဲ့ဖူးပြီ။ အသင်တို့သည်လည်း ကျွန်ုပ်၏စကားများကို အကြိမ်ကြိမ် အခါခါ ကြားဖူးကြပြီ။ ယင်းသည့် စကားများအနက် မည်သည့် စကားတခွန်းတပါဒမျှပင် ကုရ်အာန်ကျမ်းလာ အာယတ်တော်များ၏ အဆင့်အတန်းသို့ ရောက်သည်မရှိ။ ဤသည် အသင်တို့ ကိုယ်တွေ့မျက်မြင်ပင် ဖြစ်ပေသည်။ သို့ပါလျက် ယနေ့ကျမှ ကုရ်အာန်သည် ကျွန်ုပ်ဖန်တီးထားသော စကားများဖြစ်သည်ဟု ဆိုခြင်းမှာ အသို့လျှင် မှန်ကန်နိုင်အံ့နည်း။ ဤသည်တို့ကား ကုရ်အာန်ကျမ်းတော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များသာလျှင် ဖြစ်နိုင်ကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန် အထောက်အထားတရပ် ဖြစ်ချေသည်။

ကုရ်အာန်သည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်ဖြစ်ကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်၏ ဤအထောက်အထားသည် ကုရ်အာန်ကျမ်းမြတ် ကျရောက်စဉ် အချိန်၌လည်း လေးနက်လှပေသည်။ ထို့နောက် တဖန် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ 'ဟဒီးဆ်' ခေါ် 'သြဝါဒ' များကို စနစ်တကျ စုပေါင်း၍ ကျမ်းအစောင်စောင် ပြုလုပ်လိုက်သည့် အချိန်မှစ၍ အထက်ပါ ကုရ်အာန်ကျမ်းမြတ်လာ အထောက်အထားသည် ပို၍ပင် ခိုင်မာလာပေသည်။ ပို၍ပင် လေးနက်လာပေသည်။ ပို၍ပင် အသက်ဝင်လာသည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ သြဝါဒများကို စုပေါင်းထားသော ➤➤

فَمَنْ اَظْلَمُ مِمَّنِ افْتَرٰى عَلَى اللّٰهِ كَذِبًا اَوْ كَذَّبَ بِاٰيٰتِهٖ اِنَّهٗ لَا يُفْلِحُ الْمُجْرِمُوْنَ ﴿١٧﴾

၁၇။ သို့ဖြစ်ပေရာ အကြင်သူထက် ပိုမို၍ မတရားသောသူသည် မည်သူရှိဦးမည်နည်း။ ထိုသူသည် အလ္လာဟ် အရှင်မြတ်အပေါ်၌ မုသားကို ကြံဖန်လီဆယ်၍ စွပ်စွဲခဲ့လေသည်။ သို့တည်းမဟုတ် ထိုသူသည် ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့လေသည်။ ဧကန်စင်စစ် ပြစ်မှုကျူးလွန်သူတို့သည် အောင်မြင်မှု အလျင်းရရှိကြမည် မဟုတ်ပေတကား။ ၁

➤➤ ကျမ်းစာများကား တစောင်နှစ်စောင်မျှမဟုတ် အမြောက်အများ ရှိပေသည်။ ထိုကျမ်းစာများမှာလည်း နှစ်ပရိစ္ဆေဒ မြောက်မြားစွာကပင် ထွက်ပေါ်လာခဲ့ကာ ကမ္ဘာအရပ်ရပ်သို့ ပြန့်နှံ့လျက်ရှိခဲ့ပေသည်။ ယင်းကျမ်းများတွင် (၁) ဗုခါရီ၊ (၂) မွတ်စ်လင်မ်၊ (၃) အဗူဒါဝူဒ်၊ (၄) တိရ်မိဇီ၊ (၅) နစာအီ၊ (၆) မုအတ်တွာ အေမာမ်မာလစ်က်၊ (၇) အစ်ဗ်နမာဂျဟ်၊ စသည့်ကျမ်းကြီးများသည် အထူးကျော်ကြားပေသည်။ ထိုထိုသော ကျမ်းကြီးများတွင် ပါရှိသည့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အမိန့်တော် ဩဝါဒတော်များ၏ အသုံးအနှုန်းများသည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များနှင့် တစိုးတစိမျှ မတူချေ။

ဤမျှ ထင်ရှားနေသည့် ခြားနားချက်ကို ဤကာဖိရ်များ မမြင်ကြလေသလော၊ မစဉ်းစား မဆင်ခြင်မိကြလေသလော။

(မာဂျိဒီ၊ အစောင် ၃၊ စ- ၄၃၅၊ အအ- ၃၀။)

၁ "ပြစ်မှုကျူးလွန်သူများသည် အောင်မြင်မှု အစစ်အမှန်ကို အလျင်းရကြမည် မဟုတ်" ဟုဆိုလိုခြင်း ဖြစ်သည်။ ယခု စဉ်းစားဆုံးဖြတ်ရန်မှာ ပြစ်မှုကျူးလွန်သူကား မည်သူနည်း။ (မဆိုစကောင်း) တမန်တော်မြတ် (ဆွလ္လာလ္လာဟု အလိုင်ဟိဝစလ္လမ်)ပင်လော။ သို့မဟုတ် ကာဖိရ်များပင်လော။

အကယ်တန္တု တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မိမိ၏စကားများကို အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များ ဖြစ်သည်ဟု မဟုတ်မမှန် လုပ်ကြံပြီး ပြောဆိုခဲ့သည်ရှိသော် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထက် ပြစ်မှုကျူးလွန်သူ မရှိနိုင်ပေ။ သို့ရာတွင် အထက်ပါ အာယတ်တော်များ၏ အထောက်အထားများကို ထောက်ရှုခြင်းအားဖြင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မည်သည့်အခါကမျှ မိမိ၏စကားကို အလ္လာဟ်အရှင်မြတ် အာယတ်တော်ဖြစ်သည်ဟု အလျင်းပြောကြားခြင်း မရှိခဲ့သည်မှာ ထင်ရှားနေပေသည်။ သို့ဖြစ်ပေရာ တမန်တော်မြတ်(ဆွာလ္လာလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မည်သို့မျှ ပြစ်မှုကို မကျူးလွန်တော်မူခဲ့ပေ။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ မှန်ကန်မှုသည် ထင်ရှားနေပေသည်။ ကာဖိရ်များသာလျှင် မိမိတို့၏ မလိုမုန်းတီးမှုကြောင့် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များကို မုသားဟူ၍ ငြင်းဆိုကာ ပြစ်မှုကျူးလွန်ခဲ့ကြပေသည်။ သို့ဖြစ်ပေရာ ဤမိုးအောက်မြေပြင် ကမ္ဘာဇာတ်ခုံပေါ်တွင် သင်တို့ထက် ပြစ်မှုကျူးလွန်သူကား အသူရှိနိုင်အံ့နည်း။

၁၈။ စင်စစ်သော်ကား ၎င်းတို့သည် အလ္လာဟ် အရှင်မြတ်အား စွန့်ပယ်၍ အကြင်အရာများကို ကိုးကွယ်ဆည်းကပ်ကြလေသည်။ ထိုအရာများသည် ၎င်းတို့အား အကျိုးယုတ်စေနိုင်ကြသည်လည်း မဟုတ်ပေ။ ထို့ပြင် ထိုအရာများသည် ၎င်းတို့အား အကျိုးဖြစ်ထွန်းစေနိုင်ကြသည်လည်း မဟုတ်ပေ။ ထိုမှတပါး ၎င်းတို့က 'ဤသည်တို့ကား ကျွန်ုပ်တို့အား အလ္လာဟ် အရှင်မြတ်အထံတော်၌ ကြားဝင်အသနားခံပေးမည့် အရာများပင်ဖြစ်ကြသည်'ဟုပြောဆိုကြကုန်၏။ [၁]

(အို-နဗီတမန်တော်)အသင်သည်(၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့)"အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ ထိုအရှင်မြတ် သိတော်မမူသောအရာနှင့်စပ်လျဉ်း၍ သတင်းပေးကြသလော။ ထိုအရှင်မြတ်သည် သန့်ရှင်း စင်ကြယ်တော်မူသည့်အပြင် ထိုအရှင်မြတ်သည် ၎င်းတို့ တွဲဖက်နှိုင်းယှဉ် ကိုးကွယ်ကြကုန်သောအရာများထက် မြင့်မြတ်တော်မူပေသတည်း။

وَيَعْبُدُونَ مِن دُونِ اللَّهِ مَا لَا يَضُرُّهُمْ وَلَا يَنفَعُهُمْ وَيَقُولُونَ هَٰؤُلَاءِ شُفَعَاؤُنَا عِندَ اللَّهِ ۚ قُلْ أَتُنَبِّئُونَ اللَّهَ بِمَا لَا يَعْلَمُ فِي السَّمَاوَاتِ وَلَا فِي الْأَرْضِ ۚ سُبْحَانَهُ وَتَعَالَىٰ عَمَّا يُشْرِكُونَ ﴿١٨﴾

---

(၁) မုရှ်ရစ်က်များသည် အလ္လာဟ်အရှင်မြတ်အား စွန့်ပယ်၍ ကောင်းကျိုး၊ ဆိုးကျိုးမပေးနိုင်သော အရာများကို ဆည်းကပ် ကိုးကွယ်ကြသည်။ "ထိုသို့သော အရာများကို အသင်တို့ အဘယ်ကြောင့် ဆည်းကပ် ကိုးကွယ်နေကြသနည်း" ဟုမေးလျှင် ၎င်းတို့က "အမှန်စင်စစ် အကြီးဆုံးသော ကိုးကွယ်ရာအရှင်မှာ မြေနှင့်မိုးများကို ဖန်ဆင်းတော်မူသော အလ္လာဟ်အရှင်မြတ်ပင်ဖြစ်သည်။ သို့ရာတွင် ဤရုပ်တုများသည် အလ္လာဟ်အရှင်မြတ်အား အသနားခံပေး၍ ဤမျက်မှောက်ဘဝ၌ ကျွန်ုပ်တို့၏ အရေးကြီးသောကိစ္စများကို ပြီးမြောက်စေရန် ဆောင်ရွက်ပေးကြလိမ့်မည်။ အကယ်၍ သေပြီးနောက် ပြန်လည် ရှင်ပြန်ထရပြန်လျှင် ထိုတမလွန်ဘဝ၌လည်း ဤရုပ်တုများသည် အလ္လာဟ်အရှင်မြတ် ထံတော်တွင် ကျွန်ုပ်တို့အဖို့ ကြားဝင် အသနားခံပေးကြလိမ့်မည်။ ထို့ပြင်တဝ သာမန်ကိစ္စများသည် ဤရုပ်တုများ၏ အာဏာအတွင်း၌ပင်ရှိနေပေရာ ၎င်းတို့နှင့် ပြီးစီးနိုင်ပေသည်။ ထို့အတွက်ကြောင့် ကျွန်ုပ်တို့သည် ဤရုပ်တုများကို ဆည်းကပ်ကိုးကွယ်ကြပါသည်" ဟု ဖြေဆိုကြလေသည်။

"ရုပ်တုများသည် ကြားဝင် အသနားခံပေးကြလိမ့်မည်။ ကြားဝင် အသနားခံပေးသော အရာများသည် ဆည်းကပ်ကိုးကွယ်ခြင်း ခံထိုက်သည်" ဟူ၍ မုရှ်ရစ်က်တို့ပြောဆိုသော စကားနှစ်ရပ်လုံးသည် ယုတ္တိမရှိ၊ ➢➢

وَمَا كَانَ النَّاسُ إِلَّا أُمَّةً وَاحِدَةً فَاخْتَلَفُوا ۚ وَلَوْلَا كَلِمَةٌ سَبَقَتْ مِن رَّبِّكَ لَقُضِيَ بَيْنَهُمْ فِيمَا فِيهِ يَخْتَلِفُونَ ⑲

၁၉။ စင်စစ်သော်ကား လူသားတို့သည် (ယခင်မူလက) ဘာသာဝါဒ တူညီသော လူတစုတည်းသာလျှင် ဖြစ်ခဲ့ကြကုန်၏။ ထို့နောက် ၎င်းတို့သည် (ဘာသာဝါဒ၌) သဘောကွဲလွဲခဲ့ကြကုန်၏။ [၁] စင်စစ်သော်ကား အကယ်၍သာ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ စကားတရပ်သည် ရှေးဦးပထမကပင် ရှိနှင့်ခဲ့ပြီး မဖြစ်ပါလျှင် မုချဧကန် ၎င်းတို့အချင်းချင်း သဘောကွဲလွဲနေသော အရာနှင့်စပ်လျဉ်း၍ စီရင်ဆုံးဖြတ်ပြီး ဖြစ်ချိမ့်မည်။

---

➤➤ လုံးဝမှားသည်၊ မရှိသောအရာကို လုပ်ကြံပြောဆိုခြင်းသာ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် အလုံးစုံတို့ကို နှံ့စပ်စွာသိတော်မူသော ဉာဏ်တော်ရှင်ဖြစ်တော်မူ၍ ဖြစ်ပျက်သမျှသော ရှိရှိသမျှသော အရာခပ်သိမ်းကုန်တို့ကို ထိုအရှင်မြတ်သည် အကြွင်းမဲ့ သိတော်မူသည်။ မုရှ်ရစ်က်တို့ ပြောဆိုကြသော စကားများသည် မရှိသောအရာကို အရှိလုပ်၍ အမှန်ဟု ယူဆနေခြင်းသာဖြစ်သည်။

ထို့အတွက်ကြောင့် ယင်းသို့ပြောဆိုမှုကို တနည်းအားဖြင့် "အလ္လာဟ်အရှင်မြတ်အား မိုးကောင်းကင်အထပ်ထပ်နှင့် ပထဝီအပြာပြာရှိ ထိုအရှင်မြတ် သိတော်မမူသောအရာကိုပင် အသိပေးနေကြသလော" ဟု မိန့်ဆိုထားတော်မူခြင်း ဖြစ်သည်။

① မုရှ်ရစ်က်များက "အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့၏ဘာသာတွင် 'ရှရစ်က်' ပြုလုပ်ခြင်းကို တားမြစ်ထားတော်မူသည်မဟုတ်။ အသင်တို့၏ ဘာသာတွင်မှ တားမြစ်ကောင်း တားမြစ်ထားတော်မူပေမည်" ဟု ပြောကောင်းပြောဆိုကြပေမည်။ ယင်းသို့ပြောဆိုခြင်းနှင့် စပ်လျဉ်း၍ ဤအာယတ်တော်တွင် ဖြေကြားထားတော်မူသည်မှာ အလ္လာဟ်အရှင်မြတ်၏ သာသနာတော်သည် မူလအစမှပင် တစ်မျိုးတစ်စားတည်း ဖြစ်တော်မူခဲ့သည်။ ယုံကြည်ချက်များတွင်ပင် ကွဲပြားမှု အလျင်းမရှိ။ အချို့လူသားတို့သည် နောက်ပိုင်းတွင် လမ်းလွဲ၍ ကွဲပြားလာခဲ့ကြသည့်အခါ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား မှန်ကန်သော သာသနာတော်ဘက်သို့ ဖိတ်ခေါ်ရန်နှင့် သွန်သင်၊ ဆုံးမ၊ သြဝါဒပေးရန်အလို့ငှာ နဗီတမန်တော်များအား စေလွှတ်ပေးတော်မူခဲ့လေသည်။ ထိုအရှင်မြတ်သည် မည်သည့်ခေတ်၊ မည်သည့်လူမျိုးစု၌မျှ 'ရှရစ်က်' ပြုမှုကို ခွင့်ပြုတော်မူခဲ့သည် မဟုတ်ပေ။ လူသားတို့၏ ကွဲပြားမှု၊ လွဲမှားမှုများကို မိမိ၏ အာဏာတော်ဖြင့် ရုတ်တရက်၊ ချက်ချင်း ပပျောက်စေတော်မမူခြင်းမှာ အလ္လာဟ်အရှင်မြတ်၏ ဉာဏ်တော်တွင် မူလအစ ပထမကပင် ဤမျက်မှောက်ဘဝသည် ကောင်းမှုဆည်းပူးရာဌာနသာဖြစ်၍ နောက်ဆုံး စီရင်ဆုံးဖြတ်ရာ ဌာနမဟုတ်သေးသောကြောင့်ပင်။

ဤမျက်မှောက်ဘဝတွင် လူသားတို့ အား မိမိတို့ အလိုရှိသည့်အတိုင်း လွတ်လပ်စွာ ကျင့်သုံးနိုင်ခွင့်ပေးကာ အနည်းငယ် လွှတ်ထားတော်မူသည်။ အကယ်၍ ဤသတ်မှတ်ချက်သာ မရှိပါက ဖြစ်ပေါ်သမျှသော ကွဲပြားမှု၊ လွဲမှားမှု အားလုံးနှင့် စပ်လျဉ်း၍ ဤမျက်မှောက်ဘဝ၌ပင် ရုတ်တရက်၊ ချက်ချင်း အဆုံးအဖြတ်ပေးတော်မူပြီး ဖြစ်ချိမ့်မည်။ 

وَيَقُولُونَ لَوْلَآ أُنزِلَ عَلَيْهِ ءَايَةٌ مِّن رَّبِّهِۦ ۖ فَقُلْ إِنَّمَا ٱلْغَيْبُ لِلَّهِ فَٱنتَظِرُوٓا۟ إِنِّى مَعَكُم مِّنَ ٱلْمُنتَظِرِينَ ﴿٢٠﴾

၂၀။ ထိုမှတပါး ၎င်းတို့သည် (ဤသို့) ပြောဆိုကြကုန်၏။ အဘယ်ကြောင့် ထို(ရစူလ်တမန်တော်မြတ်)၏အပေါ်၌ ၎င်း၏ အရှင်မြတ်အထံတော်မှ သက်သေလက္ခဏာတစုံတရာ မကျရောက်ခဲ့ပါသနည်း။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်)အသင်သည် (၎င်းတို့အား ဤသို့)ဖြေကြားပါလေ။ (အချင်းတို့) 'အကယ်စင်စစ် အကွယ်၌ရှိသမျှတို့ကို အလ္လာဟ်အရှင်မြတ်သာလျှင် ပိုင်ဆိုင်တော်မူ၏။ သို့ဖြစ်ပေရာ အသင်တို့သည် စောင့်မျှော်၍နေကြလေကုန်။ ငါသည်လည်း အသင်တို့နှင့်အတူ စောင့်မျှော်သူတို့တွင် တဦးအပါအဝင် ဖြစ်ချေသတည်း'။ ၁

➤➤ "လူသားများ အားလုံးတို့သည် ယခင်မူလပထမက တသင်းတဖွဲ့တည်း ဖြစ်ခဲ့ကြ၏။ လမ်းစဉ်တခုတည်းအပေါ်၌ တည်ရှိ၏။ 'တောင်ဟီးဒ်' တရားကိုပင် ယုံကြည်ခဲ့ကြ၏" ဟူသော ဤသည့် အာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် "သာသနာသည် တဖြည်းဖြည်း တိုးတက်လာခဲ့သည်" ဟူသော အယူအဆမှာ လုံးဝမှားယွင်းကြောင်း ထင်ရှားနေပေသည်။ အမှန်မှာ လူသားတို့သည် ယခင်မူလပထမက တောင်ဟီးဒ်တရားပေါ်၌သာ တည်ရှိခဲ့ကြသည်။ ထိုနောက်သော်မှ တဖြည်းဖြည်း တိုးတက်ခြင်း မဟုတ်ဘဲ၊ တဖြည်းဖြည်း ဆုတ်ယုတ်လာခဲ့ခြင်းကြောင့် ကုဖ်ရ်၊ ရှိရစ်က်စသည့် မိစ္ဆာဝါဒများ ပေါ်ပေါက်လာခဲ့ခြင်း ဖြစ်သည်။

(Monotheism) "တဆူတည်းသောဘုရား ကိုးကွယ်မှုဝါဒ" သည် မူလအစပထမ ဖြစ်သည်။ (Polytheism) 'ဘုရားအများ ကိုးကွယ်မှုဝါဒ' သည် နောက်မှပေါ်ပေါက်လာသော ဝါဒဖြစ်သည်ဟူ၍ ဆိုလိုခြင်းပင်။ ဤသည့်အချက်ကို ကမ္ဘည်းကျောက်စာ ပါရဂူများဖြစ်ကြသော (Archaeologist, Professor Schmidt, Professor Langoen, Sir Charles Morriston)ပါမောက္ခ ရှမစ်ဒ်၊ ပါမောက္ခ လဏ်ဂိုအင်၊ ဆာချားလစ် မော်ရစ္စတာန် စသည့် ကဝိသုခမိန်များသည် လက်ခံထားကြပေပြီ။

(မာဂျိဒီ၊ အစောင် ၃၊ စ ၄၃၆၊ အောက်ခြေ အမှတ် ၃၂။)

(၁) မုရှ်ရိစ်က်များသည် မလိုမုန်းတီးမှုကြောင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတွင် ကြံကြံဖန်ဖန် တန်ခိုးပြာဋိဟာများကို တောင်းဆိုလေ့ရှိခဲ့ကြသည်။ ယင်းသို့ တောင်းဆိုကြပြီးနောက် ၎င်းတို့ တောင်းဆိုသော တန်ခိုးပြာဋိဟာ တပါးပါးသည် အဘယ်ကြောင့် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ထံသို့ ကျရောက်မလာခဲ့သနည်းဟု ပြောဆိုလေ့ရှိခဲ့ကြသည်။ ဤအာယတ်တော်တွင် ယင်းသို့ ပြောဆိုခြင်းနှင့်စပ်လျဉ်း၍ ဖြေကြားထားတော်မူသည်။ အဖြေ၏အကျဉ်းသဘောမှာ ယင်းကာဖိရ် မုရှ်ရစ်က်များသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ မှန်ကန်ခြင်းနှင့် စပ်လျဉ်း၍ ယခင်က သက်သေလက္ခဏာတော်အမြောက်အမြားကို တွေ့မြင်ကြပြီးဖြစ်သည်။ ယခုထပ်မံ၍ ၎င်းတို့တောင်းဆိုသော တန်ခိုးပြာဋိဟာများကို ပြရန်ပင် မလိုပေ။ ယင်းသို့ ပြခြင်းအားဖြင့် အကျိုးလည်း အထူးရှိမည်မဟုတ်ပေ။ ➤➤

وَإِذَآ أَذَقْنَا النَّاسَ رَحْمَةً مِّنۢ بَعْدِ ضَرَّآءَ مَسَّتْهُمْ إِذَا لَهُم مَّكْرٌ فِيٓ ءَايَاتِنَا قُلِ اللَّهُ أَسْرَعُ مَكْرًا إِنَّ رُسُلَنَا يَكْتُبُونَ مَا تَمْكُرُونَ ﴿٢١﴾

၂၁။ အမှန်သော်ကား ငါအရှင်မြတ်သည် လူတို့အား ၎င်းတို့၌ ဘေးဒုက္ခ ဆိုက်ရောက်ခဲ့ပြီးနောက် (မိမိ၏) ကရုဏာတော်(၏ အရသာ)ကို မြည်းစမ်းစေတော်မူသော် ရုတ်တရက် ၎င်းတို့၌ ငါအရှင်မြတ်၏ သက်သေလက္ခဏာတော်များနှင့် စပ်လျဉ်း၍ အကြံအစည်များပေါ်လာလေ့ရှိပေသည်။(အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား) 'အလ္လာဟ်အရှင်မြတ်သည် အကြံအစည်ပြုရာ၌ (၎င်းတို့ထက်) ပိုမို၍ပင် လျင်မြန်တော်မူသောအရှင် ဖြစ်တော်မူသည်' ဟု ပြောကြားပါလေ။ ဧကန်အမှန် ငါအရှင်မြတ်၏ (ကောင်းကင်)စေတမန်များသည် အသင်တို့ ကြံစည်လျက်ရှိသည်တို့ကို ရေးမှတ်လျက်ရှိကြပေသတည်း၊[၁]

---

➤➤ နောက်နောင်တွင် အလ္လာဟ်အရှင်မြတ်သည် အလိုတော်ရှိပါက လျော်ကန်သင့်မြတ်သော သက်သေကလ္ခဏာတော်တစ်ပါးပါးကို ပြသတော်မူလိုက ပြသတော်မူမည်ဖြစ်သည်။ နောက်နောင် မည်သို့သော သက်သေလက္ခဏာတော်များ ပြသမည်မှာ 'ဃိုက်ဗ်' အကွယ်၌ရှိသော အရာသာဖြစ်သည်။ အကွယ်၌ရှိသော အရာခပ်သိမ်းကုန်တို့ကို အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူသည်၊ ကျွန်ုပ်မသိ။ သို့ဖြစ်ပေရာ အသင်တို့လည်း စောင့်မျှော်ကြကုန်လော့၊ ကျွန်ုပ်လည်း အသင်တို့နှင့်အတူ စောင့်မျှော်ပါမည်ဟူ၏။

(၁) အလ္လာဟ်အရှင်မြတ်သည် မက္ကာမြို့သားများအပေါ်၌ ခုနစ်နှစ်တိုင် မိုးလေဝသ ခေါင်းပါးစေတော်မူခဲ့၏။ (ဒုဗ္ဘိက္ခန္တရ) အစာတော်မွတ်၍ ပျက်စီးသောကပ် ဆိုက်ရောက်စေတော်မူခဲ့၏။ ယင်းသို့ မိုးခေါင်ရေရှားကာ ပျက်စီးကြရတော့မည့်ဆဲဆဲ ဖြစ်ကြသောအခါတွင်မှ မက္ကာမြို့သား မုရှိရစ်က်များသည် 'ခလုတ်ထိမှ အမိတ၊ အလုပ်ရှိမှ သတိရ' ဆိုသော စကားကဲ့သို့ ကြောက်လန့်စိုးရိမ်ပြီး တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံ မိုးဆုပန်ရန် မေတ္တာရပ်ခံ၍ "ဤဘေးဒုက္ခ ပပျောက်သွားပါက အကျွန်ုပ်တို့သည် အီမာန်ယုံကြည်ကြပါမည်" ဟု ကတိပြုကြလေသည်။ ထိုအခါ တမန်တော်မြတ်(ဆွာလ္လလ္လမ်ဟု အလိုင်ဟိဝစလ္လမ်)သည် အလ္လာဟ်အရှင်မြတ်ထံတော်၌ မိုးဆုပန်ကြားတော်မူလေသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ထိုပန်ကြားချက်ကြောင့် ဒုဗ္ဘိက္ခန္တရကပ် ပပျောက်သွားလေသည်။ ယင်းသို့ ဘေးအန္တရာယ် ပပျောက်သွားသည့်အခါ မက္ကာမြို့သား မုရှိရစ်က်များသည် မိမိတို့ကတိအတိုင်း 'အီမာန်' ယုံကြည်ရမည့်အစား သွေဖည်မြဲ သွေဖည်နေကြ၏။ သောင်းကျန်းမြဲ သောင်းကျန်းနေကြ၏။

အလ္လာဟ် အရှင်မြတ်၏ ကရုဏာတော်များကိုပင် မထောက်ထားဘဲ ထို အရှင်မြတ်၏ ဒေသနာတော်များကို မုသားဟုပြောဆို ပြင်းပယ်ကြ၏။ ထိုမျှမက "ဤသည့်သုခ ချမ်းသာများ သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များ မဟုတ်" ဟူ၍လည်းကောင်း၊ အဓိပ္ပာယ်မရှိ၊ အခြေအမြစ်မရှိဟု ၎င်းတို့ထင်မှတ် ယူဆထားကြသည့် "ဂြိုဟ်၊ တာရာများ၏ ဝင်ထွက်၊ ကွယ်ပျောက်မှုများနှင့် ➤➤

هُوَ الَّذِىْ يُسَيِّرُكُمْ فِى الْبَرِّ وَالْبَحْرِ حَتّٰٓى اِذَا كُنْتُمْ فِى الْفُلْكِ وَجَرَيْنَ بِهِمْ بِرِيْحٍ طَيِّبَةٍ وَّفَرِحُوْا بِهَا جَآءَتْهَا رِيْحٌ عَاصِفٌ وَّجَآءَهُمُ الْمَوْجُ مِنْ كُلِّ

၂၂။ ထိုအရှင်မြတ်သည် အကြင် အရှင်မြတ်ပင်၊ ထိုအရှင်မြတ်သည် အသင်တို့အား ကုန်းကြောင်း၌လည်းကောင်း၊ သမုဒ္ဒရာ ပင်လယ်ရေကြောင်း၌လည်းကောင်း၊ ခရီးသွားလာစေတော်မူ၏။ သို့ဖြစ်သောကြောင့် အသင်တို့သည် သင်္ဘောများတွင် ရှိနေကြသောအခါ သင်္ဘောများသည် လေညင်းလေပြည်ဖြင့် ၎င်းတို့အား သယ်ဆောင်သွားလေ၏။ ၎င်းတို့သည်လည်း ထိုလေပြည်ကြောင့် ဝမ်းမြောက်ဝမ်းသာဖြစ်လျက်ရှိကြ၏။

---

➤➤ အခြား မျက်မြင်အကြောင်းတရားများ၏ အကျိုးဆက်များသာလျှင် ဖြစ်သည်" ဟူ၍လည်းကောင်း ဆိုကြသေးသည်။ ဤအာယတ်တော်တွင် ယင်းမုရှ်ရစ်ကတို့၏ ထိုပြောဆိုချက်များ ကို ဖြေကြားထားတော်မူသည်။

'အသင်တို့သည် စေတ္တခဏမျှ၊ ကောင်းစွာ လိမ်လည်၊ လှည့်ဖြားနေကြလော့၊ မကောင်းသော အကြံအစည်များ ကြံစည် ထုတ်နှင့်ကြကုန်၊ သို့ရာတွင် အသင်တို့ သိထားအပ်သည်မှာ အသင်တို့၏ အကြံအစည် အားလုံးတို့ကို ငါ၏ကောင်းကင်တမန်များသည် တစ်ခုမကျန် ရေးမှတ်ထားကြသည်။

ယင်းသည့်မှတ်တမ်းများကို အသင်တို့သည် ကိယာမတ်နေ့တွင် ကိုယ်တိုင် တွေ့မြင်ကြရပေမည်။ အသင်တို့သည် မိမိတို့၏ အကြံအစည်များကို ကောင်းကင်တမန်များ ဘက်မှပင် ကွယ်ဝှက် မထားနိုင်ကြပေရာ ငါ့ဘက်မှ အသို့လျှင် ကွယ်ဝှက်ထားနိုင်ကြအံ့နည်း။ အသင်တို့သည် မိမိတို့၏ အကြံအစည်များနှင့် စပ်လျဉ်း၍ အထင်ကြီးနေကြသည်။ အမှန်မှာ အလ္လာဟ်အရှင်မြတ်၏ တုံ့ပြန် လက်စားချေမည့် အကြံအစည်သည်ကား အသင်တို့၏ အကြံအစည်များထက် အတိုင်းအဆမရှိ ပိုမိုလျင်မြန်သည်။ ပိုမိုထိရောက်သည်။ ပိုမိုကြီးကျယ်သည်" ဟူ၍ ဆိုလိုခြင်းပင်။

အလ္လာဟ်အရှင်မြတ်သည် ပြစ်မှုကျူးလွန်သူတို့အား လုန်ထားတော်မူလေ့ရှိသည်။ ယင်းသို့ လုန်ထားတော်မူသည့်အခါ ပြစ်မှုကျူးလွန်သူများ ပြစ်မှုများ ပိုမိုကျူးလွန်လာပြီး မိမိတို့၌ တစ်စုံတစ်ရာ အပြစ်မရှိဟူ၍ပင် ထင်မြင်လာတတ်ကြပေသည်။

ဤသို့အားဖြင့် ပြစ်မှုကျူးလွန်ရာ၌ လမ်းဆုံးတိုင် ရောက်သည့်အခါ အလ္လာဟ်အရှင်မြတ်သည် ရုတ်တရက် ပြင်းထန်သော ပြစ်ဒဏ်ပေးတော်မူလေ့ရှိသည်။ ထို့အတွက်ကြောင့် အသိဉာဏ် အမြော်အမြင်ရှိသူတို့သည် ယင်းသို့ အလ္လာဟ်အရှင်မြတ်၏ လုန်ထားမှုကို လျစ်လျူပြု၍ ခေတ္တရရှိသည့် သာယာမှုကို အကြောင်းပြု အထင်ကြီးကာ မနေသင့်ကြပေ။ ဤသာယာမှု နောက်ပိုင်းတွင် ကြီးမားသော ဒုက္ခများ ဆိုက်ရောက်လာနိုင်ပေသည်။ ဤသည့်သဘောကိုပင် ရှေ့လာလတ္တံ့သော အာယတ်တော်တွင် မိန့်ဆိုထားတော် မူသည်။

مَكَانٍ وَّظَنُّوْٓا اَنَّهُمْ اُحِيْطَ بِهِمْ ۙ دَعَوُا اللّٰهَ مُخْلِصِيْنَ لَهُ الدِّيْنَ ۚ لَئِنْ اَنْجَيْتَنَا مِنْ هٰذِهٖ لَنَكُوْنَنَّ مِنَ الشّٰكِرِيْنَ ﴿٢٢﴾

ထိုအခါ (ရုတ်တရက်) ထိုသင်္ဘောများကို လေပြင်းမုန်တိုင်းသည် ရိုက်ခတ်လာ၍ လှိုင်းတံပိုးများသည်၎င်းတို့အပေါ်၌ အဖက်ဖက်မှ လွှမ်းမိုးလာသဖြင့် ၎င်းတို့သည် ဧကန်မလွဲ မိမိတို့မှာ ဝိုင်းဝန်းခြင်းကို ခံကြရလေပြီဟု ထင်မှတ်ခဲ့ကြလေသည်။ (ထိုအခါ) ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အား ထိုအရှင်မြတ်၌သာလျှင် (အာရုံစူးစိုက်) သဒ္ဓါကြည်ဖြူလျက် (အို-အရှင်) "အကယ်၍ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ဤ(ဘေးအန္တရာယ်)မှ လွတ်မြောက်စေတော်မူပါလျှင် ဧကန်မလွဲ ကျွန်တော်မျိုးတို့သည် ကျေးဇူးတော်ကို သိတတ်ကြသောသူတို့တွင် အပါအဝင် ဖြစ်ကြပါမည်"ဟု ဟစ်ခေါ်ဆုတောင်းကြ၏။ ၁

---

(၁) သမုဒ္ဒရာပင်လယ်၌ လှေသင်္ဘောတို့ဖြင့် ရေကြောင်းခရီး သွားနေကြသောခရီးသည်များသည် လေညင်းလေပြည် တိုက်ခတ်နေ၍ ရေယာဉ်ကြော၌ သာယာစွာ စီးနင်းလိုက်ပါ သွားနေကြရသည့်အခါ ဝမ်းမြောက်ဝမ်းသာ ရှိလှကြကုန်၏။ သို့ ဝမ်းမြောက်ဝမ်းသာရှိနေကြစဉ် ရုတ်တရက်၊ ချက်ချင်း လေပြင်းမုန်တိုင်းကျပြီး အဖက်ဖက်မှ လှိုင်းတံပိုးများ ရိုက်ခတ်ကာ မရပ်တည်နိုင်တော့ဘဲ ယခုပင် သေကြေပျက်စီးကြရတော့မည်ဟု ထင်မြင်ကာ လွန်စွာထိတ်လန့်ကြောက်ရွံ့ကြကုန်၏။ ခရီးသည်များသည် 'ခလုတ်ထိမှအမိတ၊ အလုပ်ရှိမှ သတိရ' ဟူသော ဆိုရိုးစကားကဲ့သို့ "ငါတို့၌ အလွန်ကြောက်မက်ဖွယ်ကောင်းသော ဘေးအန္တရာယ်ဆိုး ကြီးဆိုက်ရောက်ချေပြီ။ သေဘေးမှလွတ်မြောက်ရန် လမ်းလည်းမရှိပြီ"ဟု သိမြင်ကာ ၎င်းတို့သည် မိမိတို့ကိုယ်တိုင် ပြုလုပ်ကိုးကွယ်ထားကြသော ဘုရားကြီးငယ် အားလုံးတို့ကို မေ့ပျောက်လျက် အလ္လာဟ်အရှင်မြတ်အားသာလျှင် သဒ္ဓါကြည်ဖြူစွာဖြင့် တစ်စိတ်တစ်လက်တည်း လျှောက်ထားပန်ကြားကြလေသည်။ ကတိအမျိုးမျိုးလည်း ပေးကြလေသည်။ (ဤကား လူ့သဘာဝပင်)။ "အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ဤဘေးမှ ကယ်တင် လွတ်မြောက်စေတော်မူပါလျှင် ကျွန်တော်မျိုးတို့သည် အရှင်မြတ်၏ကျေးဇူးတော်ကို ဘယ်သောအခါ၌မျှ မေ့ကြမည်မဟုတ်ပါ။ အမြဲထာဝစဉ် ကျေးဇူးတော်ကို သိတတ်ကြပါမည်။ ကျွန်တော်မျိုးတို့သည် အရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ကြပါမည်။ မည်သည့်အရာကိုမျှ အရှင်မြတ်နှင့် ယှဉ်တွဲကိုးကွယ်ကြမည် မဟုတ်ပါ"ဟု ကတိပြုကြလေသည်။ သို့တစေလည်း အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ထိုသေဘေးမှ လွတ်မြောက်၍ ကမ်းခြေပေါ်တွင် ခြေချကြသည်နှင့်တစ်ပြိုင်နက် 'ခွေးမြီးကောက် ကျည်တောက်စွပ်' ဟူသော ဆိုရိုးစကားကဲ့သို့ ကတိမတည်တော့ဘဲ ကျေးဇူးကန်းမြဲ ကန်းကြလေတော့သည်။ ဆိုးမြဲတိုင်းဆိုး၊ မိုက်မြဲတိုင်း မိုက်နေကြပြန်တော့သည်။ တိုင်းပြည်တွင်း၌ ဆူပူမှုများကို ပြုလုပ်ကြတော့သည်။ အနည်းငယ်မျှပင် မိမိတို့၏ ကတိအတိုင်း မနေကြတော့ပေ။

فَلَمَّآ أَنجَىٰهُمْ إِذَا هُمْ يَبْغُونَ
فِى ٱلْأَرْضِ بِغَيْرِ ٱلْحَقِّ ۗ يَٰٓأَيُّهَا
ٱلنَّاسُ إِنَّمَا بَغْيُكُمْ عَلَىٰٓ أَنفُسِكُم ۖ
مَّتَٰعَ ٱلْحَيَوٰةِ ٱلدُّنْيَا ۖ ثُمَّ إِلَيْنَا
مَرْجِعُكُمْ فَنُنَبِّئُكُم بِمَا كُنتُمْ
تَعْمَلُونَ ٢٣

၂၃။ တစ်ဖန် အကြင်အခါဝယ် ထိုအရှင်မြတ်သည် ၎င်းတို့အား လွတ်မြောက်စေတော် မူသောအခါ ရုတ်တရက် ချက်ချင်းပင် ၎င်းတို့သည် ကမ္ဘာမြေပြင်ဝယ် မတရားသဖြင့် စည်းကမ်းကျူးလွန်ကြကုန်၏။

“အို-လူအပေါင်းတို့ အသင်တို့၏ စည်းကမ်းကျူးလွန်မှုသည် အသင်တို့အပေါ်၌သာ (ပြန်လည်ကျရောက်မည်)ဖြစ်သည်။ (အသင်တို့သည်) လောကီဘဝ၏ (အနည်းငယ်မျှသော) အကျိုးကျေးဇူးကို (ခံစားလျက် ရှိကြကုန်လော့)။ ထို့နောက် အသင်တို့သည် ငါအရှင်မြတ်၏အထံတော်သို့သာလျှင် ပြန်ကြရပေမည်။ ထိုအခါ ငါအရှင်မြတ်သည် အသင်တို့အား အသင်တို့ ပြုလုပ်လျက်ရှိခဲ့ကြသည်များကို ပြသတော်မူမည် ဖြစ်သတည်း။

إِنَّمَا مَثَلُ ٱلْحَيَوٰةِ ٱلدُّنْيَا
كَمَآءٍ أَنزَلْنَٰهُ مِنَ ٱلسَّمَآءِ
فَٱخْتَلَطَ بِهِۦ نَبَاتُ ٱلْأَرْضِ
مِمَّا يَأْكُلُ ٱلنَّاسُ وَٱلْأَنْعَٰمُ
حَتَّىٰٓ إِذَآ أَخَذَتِ ٱلْأَرْضُ
زُخْرُفَهَا وَٱزَّيَّنَتْ وَظَنَّ
أَهْلُهَآ أَنَّهُمْ قَٰدِرُونَ عَلَيْهَآ
أَتَىٰهَآ أَمْرُنَا لَيْلًا أَوْ نَهَارًا

၂၄။ (ဤမျက်မှောက်) လောကီဘဝ၏ ဥပမာသည်ကား အကြင်ရေ၏ဥပမာကဲ့သို့ ဖြစ်ချေသည်။ ငါအရှင်မြတ်သည် ထိုရေကို မိုးကောင်းကင်မှ ချပေး(ရွာသွန်းစေ)တော်မူခဲ့လေသည်။ တစ်ဖန်ထိုရေကြောင့် ပထဝီမြေမှ လူတို့သည်လည်းကောင်း၊ ခြေလေးချောင်းသတ္တဝါတို့သည် လည်းကောင်း စားသုံးကြကုန်သော အပင်ငယ်များသည်ရောယှက်၍ ထွက်လာလေသည်။

နောက်ဆုံးတွင် ပထဝီမြေသည် မိမိ ဝတ်စားတန်ဆာကို ယူ၍ (လှပတင့်တယ်စွာ) တန်ဆာဆင်ယင်ပြီး၊ ထိုမြေကိုပိုင်ဆိုင်သူတို့က ၎င်းတို့သည် ထို(ပေါက်ရောက်သမျှတို့)ကို (မိမိတို့ စိတ်ထင်တိုင်း) သုံးစွဲနိုင်ကြပြီဟု ထင်မြင်ယူဆလာကြသည်။

فَجَعَلْنٰهَا حَصِيْدًا كَاَنْ لَّمْ تَغْنَ بِالْاَمْسِ ۭ كَذٰلِكَ نُفَصِّلُ الْاٰيٰتِ لِقَوْمٍ يَّتَفَكَّرُوْنَ ﴿٢٤﴾

ထိုအခါ (ရုတ်တရက်) ငါအရှင်မြတ်၏ အမိန့်တော်သည် ထိုလယ်ယာဥယျာဥ်များသို့ ညဥ့်၌ ဖြစ်စေ၊ နေ့၌ဖြစ်စေ၊ ရောက်ရှိလာလေတော့၏၊ ပြီးနောက် ငါအရှင်မြတ်သည် ယင်းလယ်ယာဥယျာဥ်များကို ရိပ်သိမ်းပြီးပမာ ဖြစ်စေတော်မူလေသော် ထိုလယ်ယာဥယျာဥ်များသည် ယမန်နေ့က လုံး၀ မရှိသကဲ့သို့ပင် ဖြစ်သွားချေသည်။ ငါအရှင်မြတ်သည် ထိုကဲ့သို့ပင် သက်သေလက္ခဏာတော်များကို စဉ်းစားဆင်ခြင် ချင့်ချိန်သူတို့ အကျိုးငှာ အသေးစိတ် ရှင်းလင်း ဖော်ပြတော်မူလေသတည်း။ [၁]

وَاللّٰهُ يَدْعُوْٓا اِلٰى دَارِ السَّلٰمِ ۭ وَيَهْدِيْ مَنْ يَّشَاۗءُ اِلٰى صِرَاطٍ مُّسْتَقِيْمٍ ﴿٢٥﴾

၂၅။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် (လူခပ်သိမ်းတို့အား) ငြိမ်းချမ်းရေးဘုံဗိမာန်သို့ ဖိတ်ခေါ်တော်မူလေသည်။ ၎င်းပြင် ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား *ဖြောင့်မတ်မှန်ကန်သောတရားလမ်းစဉ်သို့ပို့ဆောင်တော်မူ၏။* [၂]

---

(၁) ဤပစ္စက္ခ မျက်မှောက်ဘ၀သည် သခၤါရ၊ ခဏ္ဍခဏ၊ ယာယီမျှသာဖြစ်ပြီး နောင်တမလွန်ဘ၀သည်သာလျှင် ထာ၀ရ၊ အဓိကဖြစ်ချေသည်။ လူသားတို့သည် သခၤါရကို သခၤါရဟူ၍ပင် သိအပ်၏။ ကျင့်အပ်၏။ သခၤါရကို ထာ၀ရဟူ၍ ထင်မှတ်က မှားမည်၊ အရှုံးကြီး ရှုံးရပေမည်။

ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၁၈း၄၅။ ၃၉း၂၁။ ၅၇း၂၀) တွင်လည်း မိန့်ဆိုထားတော်မူသည်။

(၂) အထက်ပါအာယတ်တော်တွင် မိန့်ဆိုထားတော်မူသည့်အတိုင်း ဤပစ္စက္ခ မျက်မှောက်ဘ၀သည် "ဒါရုလ်ဖနာ" ပျက်စီးယိုယွင်းသွားမည့် ဌာနဖြစ်သည်။ အရိပ်ပမာ သခၤါရမျှသာ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် ထာ၀ရ တည်ရှိမည့်ဌာန (ဝါ) ထာ၀ရ ငြိမ်းချမ်းသာယာမည့် ဌာနသို့ ဖိတ်ခေါ်တော်မူသည်။ ထို့ပြင်တ၀ မိမိအလိုတော်ရှိသောသူတို့အား ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်ကို လည်းညွှန်ပြတော်မူသည်။ ထိုတရားလမ်းစဉ်ကို လိုက်နာကျင့်သုံးခြင်းအားဖြင့် ထာ၀ရ တည်ရှိ၊ ငြိမ်းချမ်းသာယာမည့် ဘုံဗိမာန်သို့ ဆိုက်ရောက်နိုင်ပေသည်။ (ကြည့်-ထာနဝီ။)

အလ္လာဟ်အရှင်မြတ် ဖိတ်ခေါ်သည့် ထာ၀ရတည်ရှိ၊ ငြိမ်းချမ်းသာယာမည့် ဘုံဗိမာန်တွင် ဒုက္ခမရှိ၊ ပူပန်သောကမရှိ၊ ကြောင့်ကြစိုးရိမ်ရမှု မရှိ၊ နစ်နာဆုံးရှုံးမှုမရှိ၊ ပျက်စီးယိုယွင်းမှုမရှိ၊ ဘေးအန္တရာယ်ဟူ၍ တစ်စုံတစ်ရာမျှမရှိ။ ထိုဘုံဗိမာန်တွင် နေထိုင် စံမြန်းကြမည့် ပုဂ္ဂိုလ်များသည် ခပ်သိမ်းကုန်သော ဘေးဒုက္ခအပေါင်းတို့မှ ကင်းဝေး၍ ငြိမ်းချမ်းသာယာစွာ ရှိကြမည်။ ယင်းသို့ နေထိုင်ကြရခြင်းမှာလည်း ခဏ္ဍယာယီမဟုတ်၊ တဒင်္ဂတခဏမဟုတ်၊ အစဉ်ထာ၀ရ အမြဲပင်နေထိုင်ရခြင်းဖြစ်မည်။ ကောင်းကင်တမန်များက ၎င်းတို့အား ➢➢

لِلَّذِينَ أَحْسَنُوا الْحُسْنَىٰ وَزِيَادَةٌ ۖ وَلَا يَرْهَقُ وُجُوهَهُمْ قَتَرٌ وَلَا ذِلَّةٌ ۚ أُولَٰئِكَ أَصْحَابُ الْجَنَّةِ ۖ هُمْ فِيهَا خَالِدُونَ ﴿٢٦﴾

၂၆။ ကောင်းမှုကို ပြုခဲ့ကြသောသူတို့အဖို့ ကောင်းမြတ်သောအကျိုး (ဝါ) 'ဂျန္နတ်' သုခဘုံ ရှိသည့်ပြင် *အပို(ဆုလာဘ်များ)လည်း ရှိချေသည်။* [၁] ထိုမှတပါး ၎င်းတို့၏မျက်နှာများကို မြူ ဖုန်များ ဖုံးလွှမ်းမည်မဟုတ်။ ကျိုးယုတ်ရှက်ရ ဂုဏ်သိက္ခာကျခြင်းသည်လည်း ဖုံးလွှမ်းမည်မဟုတ်ပေ။ ထိုသူတို့သည်ပင် 'ဂျန္နတ်' သုခဘုံသားများ ဖြစ်ကြကုန်၏။ ၎င်းတို့သည် ယင်း 'ဂျန္နတ်' သုခဘုံတွင် ထာဝစဉ် နေထိုင်စံမြန်းကြမည့်သူများ ဖြစ်ကြကုန်သတည်း။

---

➤➤ "စလာမ်" မေတ္တာပို့သကြမည်။ ဤမျှမက အလ္လာဟ်အရှင်မြတ်၏ မေတ္တာ "စလာမ်" တည်းဟူသော လက်ဆောင်တော်ကိုပင် ချီးမြှင့်တော်မူခြင်း ခံကြရပေဦးမည်။

① ဤဘဝ၌ ကောင်းမြတ်သောအလုပ်များကို ပြုလုပ် ဆောင်ရွက်ကြသောသူများအဖို့ နောင်ဘဝတွင် အလွန်ကောင်းမွန်၊ မြင့်မြတ်သောနေရာ (ဝါ) 'ဂျန္နတ်' ဗိမာန်မြတ် ရှိပေမည်။ ထို့မျှမက အပိုလည်း ရရှိကြဦးမည်။ (ဝါ) အလ္လာဟ်အရှင်မြတ်၏ နှစ်သက်တော်မူခြင်းနှင့် ထိုအရှင်မြတ်အား ဖူးမျှော်ခွင့်ကိုလည်း ရရှိကြပေဦးမည်။

'ဇိယာဒဟ်' ဟူသောပုဒ်၏ အလိုသဘောမှာ 'အလ္လာဟ်အရှင်မြတ်အား ဖူးမျှော်ခြင်း' ဟူ၍ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ မြောက်မြားစွာသော 'ဟဒီးဆ်' သြဝါဒတော်များတွင် လာရှိပေသည်။ မြောက်မြားစွာသော 'ဆွဟာဗဟ်' သာဝကကြီးများနှင့် 'တာဗိအီန်' ခေါ် သုခမိန်များကလည်း 'ဇိယာဒဟ်' ဟူသောပုဒ်ကို ထိုအတိုင်းပင် အနက်ဖွင့်ခဲ့ကြပေသည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဤအာယတ်တော်ကို ရွတ်ဖတ်ကာ မိန့်ကြားတော်မူကြောင်း သာဝကကြီး ဆွဟိုက်ဗ်သခင်က ပြောပြခဲ့တော်မူသည်။ 'ဂျန္နတ်' သားများသည် 'ဂျန္နတ်'အတွင်းသို့လည်းကောင်း၊ 'ဂျဟန္နမ်' သားများသည် "ဂျဟန္နမ်" အတွင်းသို့လည်းကောင်း အသီးသီး ဝင်သွားပြီးကြသောအခါ ကြွေးကြော်သူတစ်ဦးက 'အို-ဂျန္နတ်' သား အပေါင်းတို့၊ အသင်တို့အဖို့ အလ္လာဟ်အရှင်မြတ်၏ ကတိတော်တပါး ကျန်ရှိနေပေသေးသည်။

ယခု ထိုအရှင်မြတ်သည် မိမိ၏ထိုကတိတော်ကို အတည်ပြုတော်မူလိုသည်' ဟု ကြွေးကြော်ရာ 'ဂျန္နတ်' သားများက "ထိုကတိတော်ကား အဘယ်နည်း၊ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ကျေးဇူးတော်ဖြင့် ကျွန်ုပ်တို့၏ ကောင်းမှုများ၏ အလေးချိန်များကို ပိုမိုလေးစေတော်မူသည် မဟုတ်ပါလော၊ ထိုအရှင်မြတ်သည် ကျွန်ုပ်တို့၏ မျက်နှာများကို ဖြူစင်၊ ကြည်လင်၊ လှပ၊ တင့်တယ်စေတော်မူသည် မဟုတ်ပါလော၊ ထိုအရှင်မြတ်သည် ကျွန်ုပ်တို့အား 'ဂျဟန္နမ်' မှ ဖယ်ရှား၍ 'ဂျန္နတ်' သို့ ပို့ဆောင်တော်မူသည် မဟုတ်ပါလော၊ ဤ ကျေးဇူးတော်များကား ကြီးမား များပြားလှချေပြီ၊ ထိုပြင်တဝ မည်သို့သော ကျေးဇူးတော်များ ရှိပါသေးသနည်း" ဟု မေးမြန်းကြပေမည်။ထိုအခါ အလ္လာဟ်အရှင်မြတ် ဘက်တော်မှ 'ဟိဂျာဗ်' အကာအကွယ်ကို ဖွင့်လှစ်တော် မူလိုက်ပေမည်။ ထိုအချိန်တွင် 'ဂျန္နတ်' သားများသည် အလ္လာဟ် အရှင်မြတ်အား ➤➤

၂၇။ သို့ရာတွင် မကောင်းမှု ဒုစရိုက်များကို ရှာဖွေဆည်းပူးကြကုန်သောသူတို့မူကား (၎င်းတို့ ရှာဖွေဆည်းပူးခဲ့ကြကုန်သော) မကောင်းမှုများ၏ အကျိုးသည်ထိုမကောင်းမှုနှင့်ထပ်တူထပ်မျှပင် *ဖြစ်ချေသည်၊*[၁] ထို့ပြင် ကျိုးယုတ်ရှက်ရ၊ ဂုဏ်သိက္ခာကျခြင်းသည်လည်း ၎င်းတို့အား ဖုံးလွှမ်းမည်ဖြစ်သည်။

၎င်းတို့အား အလ္လာဟ်အရှင်မြတ်၏ (ပြစ်ဒဏ်)မှ ကယ်တင်မည့်သူဟူ၍ တစ်ဦးတစ်ယောက်မျှ ရှိလိမ့်မည်မဟုတ်ပေ။ ၎င်းတို့၏မျက်နှာများမှာကား မည်းမှောင်နေသော ညဉ့်၏အပိုင်းအစများဖြင့် ဖုံးအုပ်ခြင်း ခံရဘိသကဲ့သို့ ရှိကြပေမည်။ ထိုသူတို့သည် ငရဲသားများ ဖြစ်ကြပေသည်။ ၎င်းတို့သည် ငရဲဘုံ၌ အမြဲ ထာဝစဉ် နေထိုင် ခံစားကြရမည့်သူများပင် ဖြစ်ကြကုန်သတည်း။

وَالَّذِيْنَ كَسَبُوا السَّيِّاٰتِ جَزَآءُ
سَيِّئَةٍۢ بِمِثْلِهَا ۙ وَتَرْهَقُهُمْ
ذِلَّةٌ ؕ مَا لَهُمْ مِّنَ اللّٰهِ
مِنْ عَاصِمٍ ۚ كَاَنَّمَآ اُغْشِيَتْ
وُجُوْهُهُمْ قِطَعًا مِّنَ الَّيْلِ
مُظْلِمًا ؕ اُولٰٓئِكَ اَصْحٰبُ النَّارِ ۚ
هُمْ فِيْهَا خٰلِدُوْنَ ﴿٢٧﴾

၂၈။ ၎င်းပြင် အကြင်နေ့ကို (သတိရပါလေ) ငါအရှင်မြတ်သည် (ထိုနေ့တွင်) ၎င်းတို့အားလုံးကို စုရုံးစေတော်မူမည်။ ထိုနောက် ငါအရှင်မြတ်သည် (အခြားအရာများကို ငါအရှင်မြတ်နှင့်) တွဲဖက်နိုင်းယှဉ် ကိုးကွယ်ကြသူတို့အား "အသင်တို့နှင့် အသင်တို့ယှဉ်တွဲကိုးကွယ်ခဲ့ကြသော ပေါင်းဖော်ပေါင်းဖက်တို့

وَيَوْمَ نَحْشُرُهُمْ جَمِيْعًا ثُمَّ
نَقُوْلُ لِلَّذِيْنَ اَشْرَكُوْا
مَكَانَكُمْ اَنْتُمْ وَشُرَكَآؤُكُمْ ۚ
فَزَيَّلْنَا بَيْنَهُمْ وَقَالَ

➤➤ ဖူးမျှော်ကြရမည်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ ပြောကြားပါအံ့၊ အလ္လာဟ်အရှင်မြတ်သည် ထို 'ဂျန္နတ်' သားတို့ကို မိမိအား ဖူးမြော်စေတော်မူခြင်းထက် ၎င်းတို့အဖို့ ပိုမိုနှစ်သက် မြတ်နိုးဖွယ်ရာ၊ ၎င်းတို့၏ မျက်စိများကို ပိုမိုအေးမြစေသောအရာဟူ၍ တစုံတရာကိုမျှ ချီးမြှင့်တော်မူခဲ့သည် မဟုတ်ပေ။

အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်များကိုလည်း မိမိအား ဖူးမျှော်ခွင့် ပေးတော်မူပါစေသတည်း။

*အာမီးန်။*

(၁) ကောင်းမှု၏ အကျိုးသည် ရသင့်ရထိုက်သည်ထက်ပင် ပိုမို၍ များပြားမည်။ ထိုမျှမကအပိုလည်း ရရှိဦးမည်ဖြစ်သည်။ မကောင်းမှု၏ ပြစ်ဒဏ်မှာကား ထိုမကောင်းမှုနှင့် အညီအမျှသာ ဖြစ်ပေသည်။ ထို့ထက်ပိုမည် မဟုတ်ပေ။ ဤသို့အားဖြင့် ကောင်းမှုနှင့် မကောင်းမှုသည် အကျိုးဆက်အားဖြင့် ခြားနားလျက် ရှိပေသည်။

شُرَكَآؤُهُمْ مَّا كُنْتُمْ اِيَّانَا تَعْبُدُوْنَ ﴿٢٨﴾

သည် မိမိတို့၏နေရာတွင်ပင် ရပ်တည်၍ နေကြလေကုန်” ဟုမိန့်ကြားတော်မူမည်။ ထို့နောက် ငါအရှင်မြတ်သည် ၎င်းတို့အား အချင်းချင်းကွဲစေတော်မူမည်။ (ထိုအခါ) ၎င်းတို့ တွဲဖက်နိုင်းယှဉ်၍ ကိုးကွယ်ခဲ့ကြကုန်သော ပေါင်းဖော်ပေါင်းဖက်တို့က (၎င်းတို့အား) “အသင်တို့သည်ငါတို့အား ကိုးကွယ်ခဲ့ကြသည်မဟုတ်” ဟု ပြောဆိုကြလတ္တံ့။ [၁]

فَكَفٰى بِاللّٰهِ شَهِيْدًاۢ بَيْنَنَا وَبَيْنَكُمْ اِنْ كُنَّا عَنْ عِبَادَتِكُمْ لَغٰفِلِيْنَ ﴿٢٩﴾

၂၉။ သို့ဖြစ်ပေရာ အသင်တို့၏ကိုးကွယ်မှုကို ငါတို့ (အလျင်း) မသိခဲ့ကြောင်း အလ္လာဟ်အရှင်မြတ်သည်ပင် ငါတို့နှင့် အသင်တို့၏စပ်ကြားဝယ် သက်သေအဖြစ် လုံလောက်တော်မူပေသတည်း။

هُنَالِكَ تَبْلُوْا كُلُّ نَفْسٍ مَّآ اَسْلَفَتْ وَرُدُّوْٓا اِلَى اللّٰهِ مَوْلٰىهُمُ الْحَقِّ وَضَلَّ عَنْهُمْ مَّا كَانُوْا يَفْتَرُوْنَ ﴿٣٠﴾

၃၀။ ထိုနေရာတွင် လူတိုင်းလူတိုင်းသည် မိမိတို့တင်ကြိုပို့နှင့်ခဲ့ပြီးဖြစ်သော အပြုအမူများကို စမ်းသပ် (မျက်ဝါးထင်ထင် သိရှိတွေ့မြင်)ကြမည်ဖြစ်ပေသည်။ ထို့ပြင်၎င်းတို့သည် *မိမိတို့၏အရှင်သခင် အစစ်အမှန်ဖြစ်တော်မူသော* [၂] အလ္လာဟ်အရှင်မြတ် အထံတော်သို့ *ပြန်ပို့ခြင်းကိုခံကြရပေမည်။* [၃] ထိုမှတစ်ပါး ၎င်းတို့ ကြံဖန်လီဆယ်ခဲ့ သမျှတို့သည် ၎င်းတို့ထံမှ ကွယ်ပျောက်သွားကြမည်သာ ဖြစ်သတည်း။

---

(၁) အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲ၍ မုရှ်ရစ်က်တို့ ကိုးကွယ်ကြသော အရာများတွင် သက်ရှိများလည်းပါရှိကြ၏။ သက်မဲ့များလည်းပါရှိကြ၏။ ကိယာမတ်နေ့တွင် မုရှ်ရစ်က်တို့ ကိုးကွယ်ကြသည့် ယင်းသက်ရှိသက်မဲ့များသည် ၎င်းတို့နှင့် ဆန့်ကျင်၍ သက်သေထွက်ဆိုကြမည် ဖြစ်သည်။

သက်ရှိများ၏ စကားပြောဆိုခြင်းမှာ မထူးဆန်းသော်လည်း သက်မဲ့များ၏ စကားပြောဆိုခြင်းမှာမူ ထူးဆန်းသည်ဟု အချို့က ယူဆကောင်းယူဆကြပေမည်။ သက်မဲ့၏ စကားပြောဆိုခြင်းသည် လူသားတို့အဖို့ ထူးဆန်းသော်လည်း အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ် အဖို့မှာကား မထူးဆန်းပေ။ ထိုအရှင်မြတ်သည် သက်မဲ့ကိုသက်ရှိ၊ မရှိကိုအရှိ ပြုစွမ်းနိုင်တော်မူပေရာ သက်မဲ့များကိုလည်း စကားပြောဆိုနိုင်စွမ်းပေးတော်မူနိုင်ပေသည်။ ကိယာမတ်နေ့တွင် လူသားတို့၏ ကိုယ်အင်္ဂါအဆစ်အပိုင်းများသည်ပင် စကားပြောဆိုကြမည့်အကြောင်း ကုရ်အာန်ကျမ်းမြတ်(၃၆း၆၅။ ၄၁း၂၁)တွင် အတည့်အလင်း မိန့်ဆိုထား တော်မူသည်။

قُلْ مَنْ يَّرْزُقُكُمْ مِّنَ السَّمَآءِ وَالْاَرْضِ اَمَّنْ يَّمْلِكُ السَّمْعَ وَالْاَبْصَارَ وَمَنْ يُّخْرِجُ الْحَيَّ مِنَ الْمَيِّتِ وَيُخْرِجُ الْمَيِّتَ

၃၁။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား) ဤသို့ ပြောဆိုမေးမြန်းကြပါလေ၊ "အချင်းတို့ အသင်တို့အား အာကာသမိုးကောင်းကင်မှလည်းကောင်း၊ ပထဝီမြေကြီးမှ လည်းကောင်း၊ မည်သူမည်ဝါ စားနပ်ရိက္ခာ ထောက်ပံ့လေသနည်း။ သို့တည်းမဟုတ် မည်သူသည် နားများနှင့် မျက်စိများကို စိုးပိုင်ပါသနည်း။

---

(၂) ကိယာမတ်နေ့တွင် လူတိုင်းလူတိုင်းသည် မိမိတို့ ပြုကျင့်ခဲ့သမျှသော ကောင်းမှု၊ မကောင်းမှု အစုစုတို့ကို မျက်ဝါးထင်ထင် တွေ့မြင်ကြရပေမည်။ မုရှ်ရစ်က်များသည် အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲဖက်စပ်ရန်၊ ရုပ်တုများ၊ ကားချပ်များကို ပြုလုပ်ရေးဆွဲ ပုံနှိပ်ထားရှိ ဆည်းကပ်ကိုးကွယ်ခဲ့ကြသည်။ ယင်းသည့် ကိုးကွယ်ရာများသည် ၎င်းတို့အား ကယ်ဆယ်ကြလိမ့်မည် ဟူ၍လည်း မှတ်ယူခဲ့ကြသည်။ ယခု (ကိယာမတ်နေ့)တွင် ယင်းသည့် ကိုးကွယ်ရာများသည် ၎င်းတို့အား ကယ်ဆယ်ရန်ဝေးစွ။ ၎င်းတို့နှင့် ဆန့်ကျင်၍ပင် "ငါတို့သည် အသင်တို့နှင့် မည်သို့မျှ မပတ်သက်၊ အသင်တို့သည် ငါတို့အား ကိုးကွယ်ခဲ့ကြသည်လည်း မဟုတ်၊ အသင်တို့ ငါတို့အား ကိုးကွယ်ခဲ့ကြသည်ကိုပင် ငါတို့ မသိ" ဟု သက်သေပြုပြောဆိုကြပေမည်။

အမှန်တကယ် အကူအညီလိုသည့်အချိန်တွင် မုရှ်ရစ်က်များနှင့် ၎င်းတို့၏ ကိုးကွယ်ရာများက ဤကဲ့သို့ အချင်းချင်း အဆက်ဖြတ်ကာ "သူ့ ငါမကယ်နိုင်၊ ငါ့ သူမကယ်နိုင် ဖြစ်ကြမည်။ ၎င်းတို့၏ ကိုးကွယ်ရာများသည် အမှန်စင်စစ် ကိုးကွယ်ရာ မဟုတ်ကြောင်း ကောင်းစွာ သိရှိသွားကြသကဲ့သို့ မုရှ်ရစ်က်တို့သည်လည်း "ဆည်းကပ်ကိုးကွယ်ရာအရှင်မှာ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သာလျှင် ဖြစ်တော်မူကြောင်း" မျက်ဝါးထင်ထင် တွေ့မြင်သိရှိသွားကြပေမည်။ မုရှ်ရစ်က်တို့အဖို့ ယခုကဲ့သို့ အရှက်တကွဲ အကျိုးနည်းဖြစ်ရကာ အရှုံးကြီးရှုံးကြရခြင်းမှာ "ဘယ်သူမပြု မိမိမှု" ဟူသော သဘောတရားအရသာ ဖြစ်ချေသည်။

(၁) ကိယာမတ်နေ့တွင် ကာဖိရ်၊ မုရှ်ရစ်က်အားလုံးတို့သည် ၎င်းတို့၏ အစစ်အမှန်ဖြစ်တော်မူသော အရှင်မြတ်ထံတော်သို့သာ ပို့ဆောင်ခြင်းခံကြရမည်၊ ထိုအရှင်မြတ်သာလျှင် အစစ်အမှန်ဖြစ်တော်မူ၏။ ၎င်းတို့ ပြုလုပ်ဖန်တီးထားကြသော လက်ဖြစ်၊ အမည်ခံတို့သည် အရှင်သခင် မဟုတ်ပေ။

ဤအာယတ်တော်တွင် "အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်၊ မုရှ်ရစ်က်တို့၏ မောင်ဝ်လာ" ဟု မိန့်ဆိုထားတော်မူသည်။ ယင်းသို့ မိန့်ဆိုထားတော်မူခြင်းမှာ ဖြစ်ရပ်မှန်နှင့် ကြောင်းရင်းသဘောအရ မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ် (၄၇း၁၁)တွင် "ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့၌ ကိစ္စအဝဝကို ဆောင်ရွက်ပေးတော်မူသော 'မောင်ဝ်လာ' မရှိ" ဟု မိန့်ဆိုထားတော်မူခြင်းမှာ ထိုအာယတ်တော်ပါ 'မောင်ဝ်လာ' ၏အနက်သဘောမှာ "ကာကွယ်တော်မူသူ" "ကူညီယိုင်းပင်းတော်မူသူ" ဟူ၍ဖြစ်သည်။ အာယတ်တော် အချင်းချင်း ဆန့်ကျင်ခြင်းမဟုတ်။

အချို့ပညာရှင်များက ( مَوْلٰىهُمُ الْحَقِّ )၏အနက်ကို "အမှန်အကန်အတိုင်း တရားသဖြင့် စီရင်ဆုံးဖြတ်ပေးတော်မူမည့် အရှင်" ဟူ၍ တနည်း ဖွင့်ဆိုကြသည်။

مِنَ الْحَيِّ وَمَنْ يُّدَبِّرُ الْأَمْرَ فَسَيَقُوْلُوْنَ اللّٰهُ فَقُلْ اَفَلَا تَتَّقُوْنَ ﴿٣١﴾

ထိုနည်းတူစွာ မည်သူသည် သက်ရှိကိုသက်မဲ့မှ ထွက်စေ၍ သက်မဲ့ကို သက်ရှိမှ ထွက်စေသနည်း။ ထိုမှတစ်ပါး မည်သူသည် အမှုကိစ္စအဝဝကို စီမံခန့်ခွဲလေသနည်း" ဟု မေးမြန်းပါလေ။ ထိုအခါ ၎င်းတို့က "အလ္လာဟ်အရှင်မြတ်" ဟူ၍ပင် မုချ ပြောဆိုဖြေကြားကြပေမည်။ သို့ဖြစ်ပေရာ အသင်သည် (၎င်းတို့အား) "အချင်းတို့ သို့ပါလျက်အသင်တို့သည် (တစုံတရာကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက် နှိုင်းယှဉ်ကိုးကွယ်ခြင်းမှ) မရှောင်ကြဉ်ကြလေသလော" ဟု မေးမြန်းပါလေ။ ၁

---

(၁) ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား မုရှ်ရစ်က်များကို မေးခွန်းများ မေးစေတော်မူထားသည်။

က။ လေများကို မည်သူ တိုက်ခတ်စေသနည်း။ မိုးကို မည်သူ ရွာသွန်းစေသနည်း၊ နေ လ စသည်တို့ကို မည်သူ ဖန်ဆင်းသနည်း။ အပူဓာတ်၊ အအေးဓာတ်ကို မည်သူပေးသနည်း။ ဥတုရာသီ အပြောင်းအလွဲများကို မည်သူစီစဉ်သနည်း၊ မြေမှ ကောက်ပဲသီးနှံများကို မည်သူပေါက်ပွား၊ ရှင်သန်၊ ကြီးထွား၊ ပွင့်သီး၊ ရင့်မှည့်စေသနည်း၊ မြေထွက်ပစ္စည်းများကို မည်သူ ဖန်ဆင်းထားသနည်း။

ခ။ အံ့ဖွယ်ကောင်းလှသည့်နား၊ မျက်စိစသည့်အာရုံများကို မည်သူဖန်ဆင်းထားသနည်း၊ မည်သူ ပိုင်သနည်း၊ မည်သူ ထိန်းသိမ်းစောင့်ရှောက် ကာကွယ်ထားသနည်း။

ဂ။ သက်မဲ့မှ သက်ရှိ၊ သက်ရှိမှ သက်မဲ့ဖြစ်စေရန် မည်သူပြုလုပ်သနည်း။ အသက်ဝိညာဉ်ကို မည်သူ စိုးပိုင်သနည်း။ သေနေသော လူမျိုးကို မည်သူ ရှင်စေသနည်း။ ရှင်နေသော လူမျိုးကို မည်သူ သေစေသနည်း။ ရုပ်နှင့်နာမ်ကို မည်သူ ပိုင်သနည်း။

ဃ။ ဖြစ်ပြီး၊ ဖြစ်ဆဲ၊ ဖြစ်လတ္တံ့သော ကိစ္စအဝဝကို မည်သူ စီစဉ်ဖန်တီးသနည်း။

**အဖြေကား ရှင်း၏၊ အလ္လာဟ်အရှင်မြတ်ပင်။**

မုရှ်ရစ်က်များသည်လည်း အထက်ဖော်ပြပါ "အနန္တော အနန္တ တန်ခိုးတော်ရှင်ကား အခြားမဟုတ် အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူသည်" ဟု ဝန်ခံကြလေသည်။ သို့ဝန်ခံကြပါလျက် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲ၍ အခြားအရာများကိုလည်း ဆည်းကပ်ကိုးကွယ်လျက် ရှိကြသည်။ ဤသည် မဟာအမှားတော်ပင်။ မုရှ်ရစ်က်များသည် ယင်းသို့ ရှရစ်က် ပြုလုပ်ခြင်းအတွက် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်တော်ကို မကြောက်ကြလေသလော။ "အမှန်ကို သိပါလျက် အမှားနောက်သို့ လိုက်ခြင်းသည် အသိဉာဏ်၊ အမြော်အမြင်ရှိသူတို့၏ အလုပ်မဟုတ်ပေ။ အမှန်တရား၏ ဆန့်ကျင်ဘက်သည် အမှားသာလျှင်ဖြစ်သည်။ တောင်ဟီးဒ်တရားသည်သာလျှင် မှန်ကန်ကြောင်း ထင်ရှားပြီးဖြစ်ရာ 'ရှရစ်က်' သည် လုံးဝဥဿုံ မှားယွင်းကြောင်း သိသာပေသည်"။

فَذٰلِكُمُ اللّٰهُ رَبُّكُمُ الْحَقُّ ۚ فَمَاذَا بَعْدَ الْحَقِّ إِلَّا الضَّلٰلُ ۖ فَأَنّٰى تُصْرَفُوْنَ ﴿٣٢﴾

၃၂။ သို့ဖြစ်လေရာ အသင်တို့၏ အရှင် အစစ် အမှန်သည် အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။ အသင်တို့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်သည် အစစ်အမှန်ပင်။ သို့ဖြစ်သောကြောင့် အမှန်တရား (ထင်ရှားပြီးသည်)၏နောက် အမှားမှ အပ အခြား မည်သည့်အရာ ရှိလေတော့သနည်း။ သို့ပါလျက် အသင်တို့သည် အဘယ်သို့ ပြန်လှည့်၍ သွားကြပါသနည်း။ [၁]

كَذٰلِكَ حَقَّتْ كَلِمَتُ رَبِّكَ عَلَى الَّذِيْنَ فَسَقُوْٓا أَنَّهُمْ لَا يُؤْمِنُوْنَ ﴿٣٣﴾

၃၃။ ဤအတိုင်းပင် အသင့်အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်၏စကားတော်သည် အမိန့်တော်ကို ဖီဆန်ခဲ့သူနှင့်ပတ်သက်၍ အတည်ဖြစ်သွားခဲ့ချေပြီ။ အဘယ်ကြောင့်ဆိုသော် ၎င်းတို့သည် 'အီမာန်' သက်ဝင်ယုံကြည်ကြမည် မဟုတ်သောကြောင့်ပင်တည်း။ [၂]

---

(၁) ဤသည်တို့ကို ပြုစွမ်းနိုင်တော်မူသော၊ ဖန်ဆင်းတော်မူသော အရှင်မြတ်သည် အသင်တို့၏ အရှင်မြတ်ပင် ဖြစ်တော်မူသည်။ ထိုအရှင်မြတ်သည်ပင် ခဝပ် ကိုးကွယ်ခြင်းကို ခံထိုက်တော်မူပေသည်။ ဤသည့် ရုပ်တု၊ ရုပ်ပုံများကား (ခဝပ်ကိုးကွယ်ခြင်းကို ခံထိုက်ကြသည်) မဟုတ်။ ဤသည့်ထင်ရှားသော၊ ခိုင်လုံသောသက်သေ၊ သာဓက အထောက်အထားများကို ထောက်ရှုခြင်းအားဖြင့် ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည်သာလျှင် ခဝတ်ကိုးကွယ်ခြင်းကို ခံထိုက်တော်မူသော အရှင်မြတ် ဖြစ်တော်မူကြောင်း အခိုင်အမာ အတည်ဖြစ်သွားပေရာ ဤသည့် မှန်ကန်ခြင်းမှအပ အခြား ဆန့်ကျင်ဘက်အရာသည် အမှားသက်သက်သာ မုချဖြစ်ရချေမည်။ သို့ဖြစ်ပေရာ အသင်တို့သည် ဤထင်ရှားလှသည့် အမှန်တရားကို မိမိတို့ကိုယ်တိုင် သိရှိဝန်ခံကြပြီး နောက်သော်မှ အဘယ့်ကြောင့် အမှန်တရားကို သွေဖည်၍ အမှား တရားဘက်သို့ သွားလိုကြသနည်း။
(ခါဇင်န်၊ အစောင် ၃၊ စ- ၁၅၄။)

(၂) အလ္လာဟ်အရှင်မြတ်သည် တစ်ဆူတည်း၊ တစ်ပါးတည်း ဖြစ်တော်မူကြောင်း၊ အလ္လာဟ်အရှင်မြတ်သည် ဖန်ဆင်းမွေးမြူထားတော်မူသော အရှင် ဖြစ်တော်မူကြောင်း ထင်ရှားသကဲ့သို့ အမှန်တရား ထင်ရှားပြီးနောက် လမ်းမှားသို့လိုက်ခြင်း၊ သက်သေသာဓကများ ခိုင်လုံပြီးနောက် သွေဖည်ငြင်းဆန် မနာခံခြင်းသည် မိုက်မဲရာ ကျသကဲ့သို့ အမိန့်တော်ကို မနာခံသောသူများအဖို့ ပြစ်ဒဏ် စီရင်ထားခြင်းမှာ လည်း အမှန်ပင် ဖြစ်ချေသည်။
(မာဂျိဒီ၊ အစောင် ၃၊ စ- ၄၄၀၊ အအ- ၅၆။)

قُلْ هَلْ مِنْ شُرَكَآئِكُمْ مَّنْ يَّبْدَؤُا الْخَلْقَ ثُمَّ يُعِيْدُهٗ ؕ قُلِ اللّٰهُ يَبْدَؤُا الْخَلْقَ ثُمَّ يُعِيْدُهٗ فَاَنّٰى تُؤْفَكُوْنَ ﴿٣٤﴾

၃၄။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား) "အချင်းတို့၊ အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်၊ နှိုင်းယှဉ် ကိုးကွယ်ကြသူ အသင်တို့အနက် (သက်ရှိသက်မဲ့အပေါင်းတို့အား) ပထမအကြိမ်စတင်ဖန်ဆင်း၍ ထို(သက်ရှိသက်မဲ့အပေါင်းတို့ သေကြေပျက်စီးကြပြီး)နောက် ယင်းဖန်ဆင်းခြင်းကို တဖန် ဒုတိယအကြိမ်လည်း ပြန်၍ ပြုလုပ်မည့်သူဟူ၍ ရှိလေသလော" ဟု မေးမြန်းပါလေ။

(ထို့နောက်) အသင်ကပင် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ အလ္လာဟ်အရှင်မြတ်သည် သာလျှင် (သက်ရှိသက်မဲ့ အပေါင်းတို့ကို) ပထမအကြိမ်လည်း စတင် ဖန်ဆင်းတော်မူ၏။ တဖန် ထို (သက်ရှိသက်မဲ့အပေါင်းတို့ သေကြေပျက်စီးကြပြီး) နောက်လည်း ထိုအရှင်မြတ်သည်ပင် ဒုတိယအကြိမ် ပြန်လည်ဖန်ဆင်းတော်မူမည်ဖြစ်သည်။ သို့ပါလျက် အသင်တို့သည် အဘယ်သို့ ပြန်လှည့်(၍ ထွက်သွား)ကြရသနည်း။ [၁]

---

① ကုရ်အာန်ကျမ်းတော်မြတ် (၁၀:၃၁)တွင် မုရှ်ရစ်က်တို့အား မေးမြန်းကြရာ မုရှ်ရစ်က်များကိုယ်တိုင် ဖြေဆိုဝန်ခံထားသည့်အကြောင်း ပါရှိ၏။ ဤအာယတ်တော် (၁၀:၃၄)နှင့် (၁၀:၃၅)တွင်မူ မုရှ်ရစ်က်များက မဖြေကြားဘဲ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) က ဖြေကြားတော်မူသည့်အကြောင်း ပါရှိပေသည်။ ခြားနားချက်ကား အသို့နည်း။ လင်းပြဦးအံ့။

(က) အကယ်၍ မုရှ်ရစ်က်များသည် (၁၀:၃၁)တွင် ဖြေကြားထားသည့်အတိုင်း ဖြေဆိုကြပါက ၎င်းတို့၏ ကိုးကွယ်ရာဘုရားများ၏ ဂုဏ်သိက္ခာကို ထိခိုက်မည်ဖြစ်၍ အဖြေပေးကြရာတွင် စဉ်းစားကာ ဆိုင်းငံ့နေကြမည်ဖြစ်သည်။ ထို့အတွက် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ဖြေကြားစေတော်မူခြင်း ဖြစ်သည်။ (ကြည့်- ထာနဝီ။)

(ခ) အရပ်မုရှ်ရစ်က်များသည် မူလအစ၊ ပထမမှပင် နောင်တမလွန်ဘဝတွင် ပြန်လည် ရှင်ပြန်ထကြရမည်ကို မယုံကြည်ကြသည့်အတွက် အဖြေမှန် ဖြေဆိုကြမည်မဟုတ်၊ ထို့အတွက် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ဖြေကြားစေတော်မူခြင်း ဖြစ်သည်။ (ကြည့်-မာဂျိဒီ။)

قُلْ هَلْ مِنْ شُرَكَآئِكُمْ مَّنْ
يَّهْدِيْٓ اِلَى الْحَقِّ ۗ قُلِ اللّٰهُ
يَهْدِيْ لِلْحَقِّ ۗ اَفَمَنْ يَّهْدِيْٓ
اِلَى الْحَقِّ اَحَقُّ اَنْ يُّتَّبَعَ اَمَّنْ
لَّا يَهِدِّيْٓ اِلَّآ اَنْ يُّهْدٰى ۚ
فَمَا لَكُمْ ۟ كَيْفَ تَحْكُمُوْنَ ﴿٣٥﴾

၃၅။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား) "အချင်းတို့၊ (အလ္လာဟ်အရှင်မြတ်နှင့်) တွဲဖက်နိုင်းယှဉ် ကိုးကွယ်ကြသူ အသင်တို့တွင် မှန်ကန်ရာသို့ လမ်းညွှန်မည့်သူ တဦးတယောက်မျှ ရှိလေသလော" ဟု မေးမြန်းပါလေ။ (တဖန်) အသင်ကပင် (၎င်းတို့အား ဤသို့)ပြန်၍ ပြောကြားပါလေ။ (အချင်းတို့) "အလ္လာဟ်အရှင်မြတ်ပင် မှန်ကန်ရာသို့ လမ်းညွှန်တော်မူ၏။ သို့ဖြစ်ပေရာ မှန်ကန်ရာသို့ လမ်းညွှန်တော်မူသောအရှင်မြတ်သည် လိုက်နာခြင်းကို ပို၍ ခံထိုက်တော်မူပါသလော၊ သို့တည်းမဟုတ် မိမိကိုယ်တိုင် လမ်းညွှန်ခြင်းကို မခံရက မှန်ကန်သောတရားလမ်းကို မရရှိသောသူသည် လိုက်နာခြင်းကို ပို၍ ခံထိုက်လေသလော။ သို့ဖြစ်ပေရာ (ဤသည်တို့ကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက် ကိုးကွယ်ကြရန်) အသင်တို့တွင် မည်သည့်အကြောင်း ရှိသနည်း။ အသင်တို့သည် မည်ကဲ့သို့ ဆုံးဖြတ်ကြပါသနည်း။"

وَمَا يَتَّبِعُ اَكْثَرُهُمْ اِلَّا ظَنًّا ۗ اِنَّ
الظَّنَّ لَا يُغْنِيْ مِنَ الْحَقِّ
شَيْـًٔا ۗ اِنَّ اللّٰهَ عَلِيْمٌۢ
بِمَا يَفْعَلُوْنَ ﴿٣٦﴾

၃၆။ စင်စစ် ၎င်းတို့အနက် အများဆုံးသော သူတို့သည် (မိမိတို့၏) ထင်မြင်ယူဆချက်ကိုသာ လိုက်နာကြကုန်၏။ အမှန်စင်စစ်သော်ကား ထင်မြင်ချက်သည် အမှန်နှင့်ဆန့်ကျင်၍ အနည်းငယ်စိုးစဉ်းမျှပင် အကျိုးပေးသည်မဟုတ်ပေ။ [၁] စင်ကနအမှန် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ပြုမူလျက်ရှိသည်တို့ကို အကြွင်းမဲ့ သိရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

(၁) အလ္လာဟ်အရှင်မြတ်သည် သက်ရှိသက်မဲ့ အပေါင်းတို့ကို စတင်ဖန်ဆင်းတော်မူသောအရှင်၊ ထိုသက်ရှိသက်မဲ့အပေါင်းတို့ သေကြေပျက်စီးသည့်အခါ တစ်ဖန် ပြန်လည်ဖန်ဆင်းတော်မူမည့်အရှင်၊ သတ္တဝါအပေါင်းတို့အား တရားဓမ္မ ညွှန်ပြတော်မူသောအရှင်မှာ အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူကြောင်း ထင်ရှားပါလျက် ထိုအရှင်အား ဆန့်ကျင်၍ "ရှရစ်က်" ၏ လမ်းစဉ်ကို လိုက်နာနေကြသော မုရှ်ရစ်က်များသည် ➤➤

وَمَا كَانَ هٰذَا الْقُرْاٰنُ اَنْ يُّفْتَرٰى مِنْ دُوْنِ اللّٰهِ وَلٰكِنْ تَصْدِيْقَ الَّذِيْ بَيْنَ يَدَيْهِ وَتَفْصِيْلَ الْكِتٰبِ لَا رَيْبَ فِيْهِ مِنْ رَّبِّ الْعٰلَمِيْنَ ﴿٣٧﴾

၃၇။ စင်စစ်သော်ကား ဤကုရ်အာန်ကျမ်းတော်မြတ်သည် အလ္လာဟ်အရှင်မြတ်အပြင် (အခြားသူတဦးဦးက) လီဆယ်ဖန်တီးထားသော ကျမ်းမြတ်မဟုတ်ပေ၊ စင်စစ်မှာမူကား (ဤကုရ်အာန်ကျမ်းတော်မြတ်သည်) မိမိအလျင်(ရှိခဲ့ဖူးသော ကျမ်းများကို) ခိုင်ခံ့စေသော ကျမ်းဖြစ်၏။ အတည်ပြု သတ်မှတ်ရေးသားထားပြီးဖြစ်သော *အမိန့်ပညတ်တော်များကို*[၁] အသေးစိတ် ရှင်းလင်းဖော်ပြထားသော ကျမ်းလည်းဖြစ်၏။ဤကုရ်အာန်ကျမ်းတော်မြတ်တွင် ဒွိဟသံသယလည်း လုံးဝမရှိချေ။ စကြဝဠာခပ်သိမ်းကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်မှ (ကျရောက်လာသော ကျမ်းတော်မြတ်အမှန်ပင်)ဖြစ်ပေသတည်း။

اَمْ يَقُوْلُوْنَ افْتَرٰىهُ قُلْ فَاْتُوْا بِسُوْرَةٍ مِّثْلِهٖ وَادْعُوْا مَنِ اسْتَطَعْتُمْ مِّنْ دُوْنِ اللّٰهِ اِنْ كُنْتُمْ صٰدِقِيْنَ ﴿٣٨﴾

၃၈။ ၎င်းတို့က"ထို(နဗီတမန်တော် မုဟမ္မဒ်)သည် ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို လီဆယ် ဖန်တီးခဲ့သည်" ဟုပြောဆိုကြလေသလော။ (အို-နဗီတမန်တော်)အသင်သည် (၎င်းတို့အား ဤသို့ ပြောကြားပါလေ။ (အချင်းတို့) "သို့ဖြစ်လျှင် အသင်တို့သည် ယင်း (ကုရ်အာန်ကျမ်းတော်မြတ်ကဏ္ဍ)နှင့်တူသော ကဏ္ဍတစ်ခုကိုပင် (စီကုံးရေးသား၍) ယူဆောင်လာခဲ့ကြလေကုန်၊

➤➤ "တောင်ဟီးဒ်၏ လမ်းစဉ်ကိုစွန့်၍ ရှရစ်က်၏ လမ်းစဉ်ကိုလိုက်ရင်း၊ လမ်းမှားခြင်း၏ ချောက်ကမ်းပါးထဲသို့ ကျဆင်းနေကြခြင်းပင် ဖြစ်ကြောင်း" အထူးပင် စဉ်းစား ဆင်ခြင်အပ်ပေသည်။ ယင်းသို့ ပြုလုပ်နေကြခြင်းမှာ ၎င်းတို့၌ မည်သို့သော သက်သေသာကေ ယုတ္တိ၊ ယုတ္တာများ ရှိသနည်း။ အမှန်မှာ ၎င်းတို့တွင် သက်သေ၊ သာကေ၊ အထောက်အထားဟူ၍ အလျင်းမရှိ၊ ထင်မြင်ချက်သာရှိသည်။ ထင်မြင် မှန်းဆချက်သည် အမှန်တရားကို ဆန့်ကျင်မြဲပင်။ မည်သို့မျှ အကျိုးမဖြစ်ထွန်းစေနိုင်ပေ။ မည်သို့မျှလည်း အသုံးမဝင်ပေ။

"အကီဒဟ်" ၊ "အကာအစ်ဒ်" ယုံကြည်ချက်များတွင် ထင်မြင်ချက်သည် မလုံလောက်ကြောင်း ဤအာယတ်တော်၌ သာကေပါရှိသည်။ (ကုရ်တုဗီ။)

□(၁) ဤအာယတ်တော်တွင် ပါရှိသော 'အလ်ကိတားဗ်' ၏အလိုမှာ အတည်ပြု၊ သတ်မှတ်၊ ပြဋ္ဌာန်းထားတော်မူသော အမိန့်ပညတ်တော်များကို ဆိုလိုသည်။

ငင်းပြင် အကယ်၍ အသင်တို့သည် "သစ္စာဝါဒီ-မှန်ကန်စွာ ပြောဆိုကြသူများ ဖြစ်ကြလျှင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်အပြင် မိမိတို့ ခေါ်ယူနိုင်ကြကုန်သော (ကူညီဆောင်မမည့်)သူတို့အားလည်း ခေါ်ယူခဲ့ကြလေကုန်"။ [၁]

၃၉။ ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မူကား ၎င်းတို့သည် မိမိတို့ကိုယ်တိုင် မသိနားမလည်သောအရာကို (စဉ်းစားဆင်ခြင်ခြင်းမပြုဘဲ) *မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။* [၂] ထို့ပြင် ၎င်းတို့ထံ *ယင်း၏အကျိုးသည်လည်း* [၃] ရောက်ခဲ့သည်မရှိချေ။ ဤနည်းနှင်နှင် ၎င်းတို့အလျှင် ရှေးအထက်ကျော်ကာရှိ၌ရှိခဲ့ကြသောသူတို့ကလည်း မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ဖူးကြလေသည်။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) မတရားသောသူတို့သည် မည်သို့မည်ပုံ အကျိုးခံစားခဲ့ကြရသည်ကို အသင်သည် ကြည့်ရှုဆင်ခြင်ပါလေ။

بَلْ كَذَّبُوا بِمَا لَمْ يُحِيطُوا بِعِلْمِهِۦ وَلَمَّا يَأْتِهِمْ تَأْوِيلُهُۥ ۚ كَذَٰلِكَ كَذَّبَ ٱلَّذِينَ مِن قَبْلِهِمْ ۖ فَٱنظُرْ كَيْفَ كَانَ عَٰقِبَةُ ٱلظَّٰلِمِينَ ﴿٣٩﴾

---

(၁) အချို့ စိတ်ကူးယဉ်သောသူများက စုဒ်စောဒနာဝင်ကြသည်မှာ "အချို့ပြောဆိုရေးသားသူများ၌ ပြောဆိုရေးသားရာတွင် ထူးခြားချက်များ ရှိသည်။ ထိုထူးခြားချက်များသည် အခြား ပုဂ္ဂိုလ်များ၌ မရှိပေ။ ထို့ကြောင့် ကုရ်အာန်ကျမ်းတော်မြတ်နှင့်အလားတူ ကဏ္ဍတစ်ခုခု ရေးသားတင်ပြရန် ကြွေးကြော်ထားခြင်းသည် တန်ခိုးပြာဋိဟာတစ်ရပ် မဖြစ်နိုင်ဟု ဆိုကြသည်။ ဤစုဒ်စောဒနာကို ချေပဖြေဆိုအံ့။

(က) တမန်တော်မြတ်(ဆွာလ္လာဟု အလိုင်ဟိဝစလ္လမ်) ပြောကြားတော်မူခဲ့သမျှသော စကားတိုင်းတွင် ထိုသည့် ထူးခြားချက် မရှိပေ။ ထိုသည့်ထူးခြားချက်သည် ကုရ်အာန်ကျမ်းတော်မြတ်၌သာ ရှိပေသည်။

(ခ) ထိုသည့် ထူးခြားချက်သည် နှစ်ပေါင်း (၄၀)ကျော်မှပင် ရုတ်တရက် အသို့လျှင် ဖြစ်ပေါ်လာခဲ့သနည်း။

(ဂ) ပုဂ္ဂိုလ်တစ်ဦး၌ အဘယ်သို့ပင် ထူးခြားချက် ရှိနေစေကာမူ စကားအရာ၌ လိမ္မာကျွမ်းကျင်ကြသော အခြားပညာရှင်များသည် ကြိုးစားက နည်းများမဆို တူအောင်၊ ဆင်အောင် ပြောဆို ရေးသားနိုင်ကြပေမည်။ ယခုမူကား ဤသို့မဟုတ်။

(ဃ) အဘယ်မျှ ထူးခြားချက်ရှိသော ပုဂ္ဂိုလ်ပင်ဖြစ်စေကာမူ မိမိကဲ့သို့ ပြောဆိုနိုင်သူ တစ်ဦးတစ်ယောက်မျှ ကိယာမတ်နေ့တိုင် ပေါ်ပေါက်မည် မဟုတ်ဟူ၍ကား မဆိုနိုင်ချေ။

အထက်ဖော်ပြပါ အကြောင်းကြောင်းတို့ကြောင့်လည်း အရဗ်ကာဖိရ်တို့သည် ဤသည့် စုဒ်စောဒနာကို တင်မပြဝံ့ခဲ့ကြပေ။



وَمِنْهُم مَّن يُؤْمِنُ بِهِۦ وَمِنْهُم مَّن لَّا يُؤْمِنُ بِهِۦ ۚ وَرَبُّكَ أَعْلَمُ بِٱلْمُفْسِدِينَ ﴿٤٠﴾

၄၀။ ထို့ပြင် ၎င်းတို့တွင် ယင်း(ကုရ်အာန်ကျမ်းတော်မြတ်)ကို ယုံကြည်မည့်သူများလည်း ရှိကြမည်။ ထိုနည်းအတူ ၎င်းတို့တွင် ထို (ကုရ်အာန်ကျမ်းတော်မြတ်)ကို မယုံကြည်မည့်သူများလည်း ရှိကြမည်။ စင်စစ်တမူကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် ပျက်စီးရာပျက်စီးကြောင်း ပြုလုပ်သောသူတို့အား အသိဆုံးသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَإِن كَذَّبُوكَ فَقُل لِّى عَمَلِى وَلَكُمْ عَمَلُكُمْ ۖ أَنتُم بَرِيٓـُٔونَ مِمَّآ أَعْمَلُ وَأَنَا۠ بَرِىٓءٌ مِّمَّا تَعْمَلُونَ ﴿٤١﴾

၄၁။ ၎င်းပြင်(အို–နဗီတမန်တော်) အကယ်၍ထိုသူတို့သည် အသင့်အားမဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်လျက်ရှိကြပါလျှင် အသင်သည် (၎င်းတို့အား ဤသို့) ဖြေကြားပါလေ။ (အချင်းတို့) “ငါ၏အပြုအမူသည် ငါ၏အဖို့သာဖြစ်၍ အသင်တို့၏ အပြုအမူသည် အသင်တို့အဖို့သာ ဖြစ်ချေသည်။ အသင်တို့သည် ငါပြုသမျှနှင့် (မည်သို့မျှမဆိုင်၊ လုံး၀)လွတ်ကင်းသူများ ဖြစ်ကြကုန်၏။ ငါသည်လည်း အသင်တို့ပြုသမျှတို့နှင့်(မည်သို့မျှမဆိုင်၊ လုံး၀)လွတ်ကင်းသူဖြစ်သည်၊[၁]

---

➤➤ ‘ဟဒီးဆ်’ ခေါ် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ၀စလ္လမ်)၏ ဩ၀ါဒတော်များသည် အခြားစကားများနှင့်စာလျှင် အလွန်တရာမှုပင် စာပေမြောက်လှ၏။ သို့တစေလည်း ယင်းသည့် ဩ၀ါဒတော်များသည် ကုရ်အာန်ကျမ်းတော်မြတ်လာ အာယတ်တော်များနှင့် မည်သို့မျှမတူချေ။ ယင်းသည့် ဩ၀ါဒတော်များနှင့် စပ်လျဉ်း၍လည်း ထိုဩ၀ါဒတော်များကဲ့သို့ စာပေအရာ၌ မည်သူမျှမရေးနိုင်၊ မပြုစုနိုင်ဟူ၍ကား ကြွေးကြော်ထားသည်မရှိပေ။ (ထာနဝီ၊ အစောင် ၅။ စ– ၁၆)

(၂) လူတစ်ယောက်သည် အကြောင်းတစ်ခုနှင့်စပ်လျဉ်း၍ စကားပြောလျှင် ဦးစွာပထမ မိမိပြောဆိုလိုသည့် အကြောင်းကို စေ့စပ်သေချာစွာ လေ့လာဆည်းပူးရပေမည်။ အဖက်ဖက်မှ ပိုင်ပိုင်နိုင်နိုင် သိရှိနားလည်ထားပြီး ဖြစ်ရမည်။ သို့သိရှိနားလည်ပြီးနောက်မှ စကားပြောဆိုသင့်ပေသည်။ မိမိကိုယ်တိုင် မသိနားမလည်သော အကြောင်းတစ်ခုတွင် ဝင်ရောက်စကားပြောဆိုခြင်းသည် အဓိပ္ပါယ်လုံး၀မရှိချေ။ (ထာနဝီ)

(၃) ဤအာယတ်တော်တွင် လာရှိသည့် “တာ့ဝီလ်” ဟူသောပုဒ်၏ အလိုသဘောမှာ “နောက်ဆုံးတွင် သက်ရောက်မည့်အရေး” ဟူ၍ ဖြစ်သည်။

(၁) ဆိုလိုသည်ကား အကယ်၍ ဤရွေ့ဤမျှ ထင်ရှားလှသည့်သက်သေ၊ သာဓကများကို တွေ့မြင် ➤➤

وَمِنْهُم مَّن يَسْتَمِعُونَ إِلَيْكَ ۚ أَفَأَنتَ تُسْمِعُ الصُّمَّ وَلَوْ كَانُوا لَا يَعْقِلُونَ ﴿٤٢﴾

၄၂။ ထိုမှတစ်ပါး ၎င်းတို့တွင် (အမြင်အားဖြင့်) အသင့်ဘက်သို့ နားစွင့်နေကြသူများလည်း ရှိကြကုန်၏။ သို့ဖြစ်ပေရာ အသင်သည် နားပင်းနေသောသူတို့အား (၎င်းတို့သည် အသိဉာဏ်ကိုအသုံးမပြုဘဲ ရှိနေကြပါလျက်) ကြားအောင်ပြုနိုင်ပါသလော။ ၁

وَمِنْهُم مَّن يَنظُرُ إِلَيْكَ ۚ أَفَأَنتَ تَهْدِي الْعُمْيَ وَلَوْ كَانُوا لَا يُبْصِرُونَ ﴿٤٣﴾

၄၃။ ထိုနည်းတူစွာ ၎င်းတို့တွင် (အမြင်အားဖြင့်) အသင့်အား ကြည့်နေသူများလည်း ရှိကြပေသည်။ သို့ဖြစ်ပေရာ အသင်သည် မျက်စိကန်းနေသောသူတို့အား (၎င်းတို့သည် ဉာဏ်မျက်စိဖြင့် မမြင်ကြပါလျက်) တရားလမ်းမှန်ကို ညွှန်ပြနိုင်ပါသလော။

إِنَّ اللَّهَ لَا يَظْلِمُ النَّاسَ شَيْئًا وَلَٰكِنَّ النَّاسَ أَنفُسَهُمْ يَظْلِمُونَ ﴿٤٤﴾

၄၄။ ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် လူသားတို့အားအနည်းငယ်စိုးစဉ်းမျှပင် နှိပ်စက်ကလူပြုတော်မူသည် မဟုတ်ပေ။ စင်စစ်မှာမူကား လူတို့သည် မိမိကိုယ်တိုင် မိမိတို့ကိုယ်ကို နှိပ်စက်ကလူပြုကြကုန်သတည်း။

---

➤➤ ကြရပါလျက် ကာဖိရ်များသည် အသင့်အား သွေဖည်ငြင်းဆန်နေကြပါလျှင် "အို-နဗီ၊ အသင်သည် ၎င်းတို့အား 'ငါသည် မိမိ၏တာဝန်ကို ကျေပွန်စွာ ဆောင်ရွက်ပြီးဖြစ်သည်။ အသင်တို့အား အတိအကျ သွန်သင်ဆုံးမ ဩဝါဒပေးပါလျက် အသင်တို့သည် နားမလည်နိုင်ကြပေရာ (အသင်တို့ သဘောကျနေကြပေတော့၊ မကြာမြင့်မီ ကောင်းစွာအကြောင်းသိကြပေမည်။) အသင်တို့၏လမ်းစဉ်နှင့် ငါ၏လမ်းစဉ်သည် တခြားစီဖြစ်နေချေပြီ။ ဤတွင် လမ်းခွဲရန်သာရှိတော့သည်။ အသင်တို့သည် အသင်တို့၏ အပြုအမူများနှင့် စပ်လျဉ်း၍သာ မေးမြန်းခြင်းခံရမည်။ အသင်တို့သည် ငါ၏အပြုအမူနှင့် မည်သို့မျှမဆိုင်။ ငါသည်လည်း အသင်တို့၏ အပြုအမူနှင့် မည်သို့မျှမဆိုင်။ လူတိုင်းလူတိုင်းသည် မိမိ၏ အပြုအမူ၏ အကျိုးကိုသာ ခံစံရမည်ဖြစ်သည်" ဟူ၍ ဖြေကြားစေတော်မူလေသည်။

၁ အချို့ ကာဖိရ်များသည် အမြင်အားဖြင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အဆုံးအမ၊ ဩဝါဒတော်များကို နားထောင်ကြသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ တန်ခိုးပြာဋိဟာများကို ကြည့်ရှုကြသည်။ သို့ရာတွင် ၎င်းတို့၏ နားထောင်ခြင်း၊ ကြည့်ရှုခြင်းများသည် စိတ်၏နားဖြင့် နားထောင်ခြင်း၊ စိတ်၏မျက်စိဖြင့် ကြည့်ရှုခြင်း မဟုတ်ပေ။ စိတ်၏နား၊ မျက်စိတို့ဖြင့် နားထောင်ခြင်း၊ ကြည့်ရှုခြင်းမျိုးသည်သာလျှင် အကျိုးရှိနိုင်ပေသည်။ ယင်းသို့ စိတ်၏နားပင်းနေသော၊ စိတ်၏မျက်စိကန်းနေသော သူများကို ကြားအောင်၊ မြင်အောင် မပြုနိုင်ပေ။ ဤသို့ စိတ်၏နား၊ စိတ်၏မျက်စိ၊ ပင်း၊ ကန်းနေကြသည့် ➤➤

وَيَوْمَ يَحْشُرُهُمْ كَاَنْ لَّمْ يَلْبَثُوْٓا اِلَّا سَاعَةً مِّنَ النَّهَارِ يَتَعَارَفُوْنَ بَيْنَهُمْ قَدْ خَسِرَ الَّذِيْنَ كَذَّبُوْا بِلِقَاۗءِ اللّٰهِ وَمَا كَانُوْا مُهْتَدِيْنَ ۝٤٥

၄၅။ ထို့ပြင် (အသင်သည် ၎င်းတို့အား) အကြင် နေ့ကို သတိပေးပါလေ။ ထိုနေ့တွင် ထိုအရှင်မြတ်သည် ၎င်းတို့အား စုရုံးတော်မူပေမည်။ ထိုအခါ ၎င်းတို့သည် (မိမိတို့မှာ လောကတွင်) နေ့၏တစ်နာရီခန့်မျှသာ [၁] နေခဲ့ကြရသည်(ဟု ထင်မှတ်ကြပေမည်)။ ၎င်းတို့သည် အချင်းချင်း တစ်ဦးကိုတစ်ဦးလည်း *မှတ်မိကြပေမည်။* [၂] (သို့သော်ငြားလည်း တစ်ဦးသည် တစ်ဦးအဖို့ အသုံးကျမည် မဟုတ်ချေ)။

အလ္လာဟ် အရှင်မြတ်နှင့် တွေ့ဆုံခြင်းကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်သောသူတို့သည် ဧကန်မလွဲ ကျိုးယုတ် ဆုံးရှုံးကြခဲ့လေပြီတကား။ စင်စစ်သော်ကား ၎င်းတို့သည် တရားလမ်းမှန်ကို ရရှိအံ့သောသူများ မဟုတ်ခဲ့ကြပေ။

---

➤➤ အတွက်လည်း ၎င်းတို့အား နားပင်းများ၊ မျက်စိကန်းများဟု မိန့်ဆို ထားတော်မူခြင်း ဖြစ်သည်။

(၁) ကိယာမတ်နေ့၏ ကြောက်မက်ဖွယ် ကောင်းလှသည့် အဖြစ်အပျက်များကို တွေ့မြင်ကြရသည့်အခါ လူ့လောကတွင် တစ်သက်တာလုံး စည်းစိမ်နှင့် နေထိုင်ခဲ့ကြရသည်များကိုပင် တစ်နာရီခန့်မျှသာ ဖြစ်သည်ဟု ထင်မှတ်ကြပေမည်။

ထိုမှတစ်ပါး လူ့လောကတွင် လက်ဖက်ရည်ဝိုင်း၌ အပျင်းပြေ တစ်နာရီ၊ နှစ်နာရီ စကားပြောပြီး အချိန်ဖြုန်းတီးကြသကဲ့သို့ မိမိတို့၏ သက်တမ်းတစ်ခုလုံးကိုလည်း အချည်းနှီး၊ အလဟဿ ကိစ္စများတွင် ဖြုန်းတီးပစ်ကြသည်ကို ယူကျုံးမရ ဖြစ်ကြပေမည်။

အချို့ မုဖတ်စ်စစ်ရ် ပညာရှင်များက "လူသားများသည် 'ဗရ်ဇခ်' ၌ သင်္ချိုင်းတွင် နေခဲ့ကြရသည့် အချိန်ပိုင်းကို တစ်နာရီခန့်မျှပင် ဖြစ်သည်ဟု ထင်မှတ်ကြပေမည်" ဟူ၍ ဖွင့်ဆိုထားကြပေသည်။

(၂) ကိယာမတ်နေ့တွင် ကာဖိရ်များသည် အချင်းချင်း မှတ်မိကြမည်။ သို့တစေလည်း တစ်ဦးကိုတစ်ဦး ကူညီနိုင်ကြမည် မဟုတ်ပေ။ ယင်းသို့ ကာဖိရ်များသည် အချင်းချင်း တွေ့ဆုံကြရသော်လည်း အသိမိတ်ဆွေချင်း တစ်ဦးကိုတစ်ဦး မကူညီ၊ မကာကွယ်၊ မစောင့်ရှောက်နိုင်ကြသည့်အတွက် ပို၍ပင် ကြေကွဲကြပေမည်။

ကိယာမတ်နေ့တွင် လူသားအားလုံးတို့သည် ကိုယ့်အရေးနှင့်ကိုယ် ပူဆွေးဗျာပါများနေမည်ဖြစ်သည်။ သူစိမ်းများကို မဆိုထားဘိ သားနှင့်အဘ၊ ညီနှင့်အစ်ကို၊ လင်နှင့်မယား စသည့် အရင်းအချာများသည်ပင်လျှင် အချင်းချင်း တစ်ဦးကိုတစ်ဦး ကြည့်ရှု ကူညီနိုင်ကြမည်မဟုတ်ပေ။

ကြည့်-ကုရ်အာန် ၂၃:၁၀၁။ ၈၀:၃၄-၃၇။

وَإِمَّا نُرِيَنَّكَ بَعْضَ الَّذِي نَعِدُهُمْ أَوْ نَتَوَفَّيَنَّكَ فَإِلَيْنَا مَرْجِعُهُمْ ثُمَّ اللَّهُ شَهِيدٌ عَلَىٰ مَا يَفْعَلُونَ ﴿٤٦﴾

၄၆။ စင်စစ်သော်ကား အကယ်၍ ငါအရှင်မြတ်သည် ၎င်းတို့အား ငါအရှင်မြတ် ကတိထားတော်မူခဲ့သော ပြစ်ဒဏ်အချို့ကို အသင့်အား ပြတော်မူသည်ဖြစ်စေ၊ သို့တည်းမဟုတ် ငါအရှင်မြတ်သည် အသင့်အား(ထိုပြစ်ဒဏ်မကျရောက်မီ) သေဆုံးတော်မူသည်ဖြစ်စေ၊ နောက်ဆုံးတွင် ၎င်းတို့၏ ပြန်လည်ရာဌာနသည် ငါအရှင်မြတ်ထံတော်၌ပင် ရှိပေသည်။ [၁] ပြီးနောက် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ ပြုလုပ်ကြသည်တို့ကိုလည်း သိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်များအား ပြစ်ဒဏ်ပေးတော်မူရန်နှင့် အစ္စလာမ်သာသနာ ရှင်သန်စေတော်မူရန် ကတိများ ပြုထားတော်မူ၏။ ယင်းသည့် ကတိတော်များအနက် အချို့ကို တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) သက်တော်ထင်ရှားရှိစဉ်မှာပင် ပြီးမြောက်စေတော်မူမည်ဖြစ်သည်။ (ဥပမာ-ဗဒ်ရ် ... စသည့် စစ်ပွဲများတွင် ကာဖိများအား အကြီးအကျယ် အရေးရှုံးနိမ့်စေ၍ မွတ်စလင်မ်များအား အကြီးအကျယ် အရေးသာစေတော်မူခဲ့သည်။)

အချို့ကတိများကိုမူ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) ကွယ်လွန်၊သေဆုံးတော်မူပြီးနောက်တွင်မှ ပြီးမြောက်စေတော်မူမည် ဖြစ်၏။ မည်သို့ပင်ဖြစ်စေ ထိုအရှင်မြတ်၏ ကတိတော် များသည် မုချပြီးမြောက်၍ နေမည်သာတည်း။

အကယ်တန္တ အကြောင်းတစ်ခုခုကြောင့် ကာဖိရ်များအား ဤပစ္စက္ခဘဝ၌ ပြစ်ဒဏ် ပေးတော်မမူသေးလျှင်လည်း နောင်တမလွန်လဝတွင်မူကား မုချ ပြစ်ဒဏ်ပေးတော်မူမည်ဖြစ်သည်။ ကာဖိရ်များသည် အလ္လာဟ်အရှင်မြတ်၏လက်တွင်းမှ မည်သည့်နည်းနှင့်မျှ လွတ်မြောက်သွားနိုင်ကြမည်မဟုတ်။ လူသားအားလုံးတို့သည် နောက်ဆုံးတွင် ထိုအရှင်မြတ်ထံတော်သို့ ရောက်ကြရမည်သာဖြစ်သည်။ ထိုအရှင်မြတ်သည် လူသားတို့ ပြုမူကျင့်ကြံသမျှကို အကြွင်းမဲ့သိတော်မူပေရာ အပြစ်ရှိသူတို့အား အပြစ်ရှိသည့် အလျောက် ပြစ်ဒဏ်ပေးတော်မူမည်ပင် ဖြစ်သည်။

ဤအကြောင်း ကုရ်အာန်ကျမ်းမြတ်(၁၃း၄၀။ ၄၀း၇၇။ ၄၃း၄၁-၄၂)တွင်လည်း ပါရှိပေသည်။

ပြစ်ဒဏ်ပေးတော်မူရန် ပြုထားတော်မူသော ကတိတော်အားလုံးသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) သက်တော်ထင်ရှား ရှိစဉ်၌ပင် ပြီးမြောက်ရန်မလို။ အမှန်မှာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ 'နုဗုဝါတ်-တမန်တော်ဖြစ်မှု' သက်တမ်းသည် ကိယာမတ်တိုင် ဖြစ်သည်။ ကုရ်အာန်ကျမ်းတော်မြတ်တွင် အစ္စလာမ့်ရန်သူ အားလုံးတို့၏အကြောင်း ပါရှိ၏။ သို့ဖြစ်ရာ ယင်းရန်သူ အားလုံးတို့၏ ပြစ်ဒဏ်အားလုံးတို့သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) သက်တော်ထင်ရှားရှိစဉ် အတွင်း၌ မည်သို့ပြီး မြောက်နိုင်ပါမည်နည်း။ အချို့ ကတိတော်များသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု ➢➢

وَلِكُلِّ أُمَّةٍ رَّسُولٌ ۖ فَإِذَا جَاءَ رَسُولُهُمْ قُضِيَ بَيْنَهُم بِالْقِسْطِ وَهُمْ لَا يُظْلَمُونَ ﴿٤٧﴾

၄၇။ စင်စစ်သော်ကား လူမျိုးတိုင်းအဖို့ တမန်တော်တစ်ပါးသည် ရှိခဲ့လေသည်။ [၁] တစ်ဖန် ၎င်းတို့အား အကြောင်းကြားမည့် တမန်တော် [၂] ရောက်ရှိခဲ့သော အခါ ၎င်းတို့၏ အကြားတွင် တရားမျှတစွာပင် စီရင်ဆုံးဖြတ်ပြီး ဖြစ်ခဲ့သည်သာတည်း။ ထို့ပြင် ၎င်းတို့သည် မတရားပြုလုပ်ခြင်းကို လုံးဝ ခံကြရသည် မဟုတ်ပေ။

---

➤➤ အလိုင်ဟိဝစလ္လမ်) သက်တော်ထင်ရှား ရှိနေတော်မူစဉ်တွင်ပင် ပြီးမြောက်ခဲ့၏။ အချို့ ကတိတော်များသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ကွယ်လွန်အနိစ္စ ရောက်တော်မူပြီးနောက်တွင် ပြီးမြောက်ခဲ့၏။ အချို့ကတိတော်များသည် ကိယာမတ်မဖြစ်မီမှာပင် ပြီးမြောက်မည်ဖြစ်သည်။ အချို့ကတိတော်များမှာမူ ကိယာမတ်နေ့တွင်သာ ပြီးမြောက်မည်ဖြစ်၏။

(၁) အထက်တွင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အမျိုးသားများအကြောင်း ပါရှိ၏။ ယခု ဤအာယတ်တော်တွင် အမျိုးသား အားလုံးတို့နှင့် ပတ်သက်သည့် စည်းကမ်း၊ နည်းလမ်းများကို မိန့်ဆိုထားတော်မူသည်။

အလ္လာဟ်အရှင်မြတ်သည် သက်သေ၊ သာဓက၊ အထောက်အထား ခိုင်လုံစေရန်အတွက် လူမျိုးတိုင်းထံသို့ တမန်တော်များကို စေလွှတ်တော်မူသည်။ သက်သေ၊ သာဓက၊ အထောက်အထား မခိုင်လုံသမျှ ကာလပတ်လုံး ထိုအရှင်မြတ်သည် မည်သူ့ကိုမျှ ပြစ်ဒဏ်ပေးတော်မမူချေ။

လူသားတို့သည် ၎င်းတို့တွင် တမန်တော်များ မပွင့်မီအလျောက်ကပင် မိမိတို့ ထင်မြင်ရာအတိုင်း ပြောဆိုပြုလုပ်နေကြ၏။ သို့ရာတွင် ၎င်းတို့အား ဤလောကီမျက်မှောက်၌ ၎င်းတို့ထံတွင် တမန်တော် မပွင့်သမျှ ကာလပတ်လုံး ၎င်းတို့နှင့်ပတ်သက်၍ အထောက်အထား မခိုင်လုံသမျှ ကာလပတ်လုံး၊ အပြစ်ဒဏ် ပေးတော်မမူချေ။ သက်သေ၊ သာဓက၊ အထောက်အထား ခိုင်လုံမှသာလျှင် ပြစ်ဒဏ် ပေးတော်မူလေသည်။ အလ္လာဟ်အရှင်မြတ်အထံတော်၌ မည်သည့်ကိစ္စနှင့်စပ်လျဉ်း၍မှ စည်းမဲ့၊ ကမ်းမဲ့၊ ဗရမ်းပတာ အဆုံးအဖြတ် ပေးတော်မူသည်မရှိ။ သက်ဆိုင်ရာ အမျိုးသားတို့ထံသို့ တမန်တော်များ စေလွှတ်တော်မူ၍ တရားဒေသနာတော်များ ဟောကြားစေတော်မူပြီးနောက် အပြစ်ဒဏ်ထင်ရှားသည့်အခါကျမှသာလျှင် ပြစ်ဒဏ်ပေးတော်မူလေသည်။

ကိယာမတ်နေ့တွင်လည်း အဆုံးအဖြတ်ပေးတော်မူရန်အတွက် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်သို့ စနစ်တကျ အားလုံးရောက်ရှိကြရမည်။ စွဲချက်များတင်ရမည်၊ သက်သေများက အသီးသီး သက်သေခံကြမည်။

လူမျိုးတိုင်းနှင့်အတူ ၎င်းတို့၏တမန်တော်များလည်း ရှိနေကြမည်။ ထိုတမန်တော်များကလည်း မိမိတို့၏ အမျိုးသားများနှင့်ပတ်သက်၍ အစီရင်ခံကြမည်။ ယင်းသို့ အထောက်အထား အသီးသီးနှင့် သက်သေ၊ သာဓကများ ပြည့်စုံသည့်အခါကျမှသာ တရားသဖြင့် အဆုံးအဖြတ် ပေးတော်မူမည်ဖြစ်သည်။ ဤသို့သာ စီရင်ဆုံးဖြတ်တော်မူမည့်အကြောင်း ကုရ်အာန် (၃၉း၆၉-၇၀) တွင်လည်း မိန့်ဆိုထားတော်မူသည်။ ➤➤

وَيَقُولُونَ مَتَىٰ هَٰذَا الْوَعْدُ إِنْ كُنْتُمْ صَادِقِينَ ۝٤٨

၄၈။ ထိုမှတစ်ပါး ၎င်းတို့က "အကယ်၍ အသင်တို့သည် မှန်ကန်စွာ ပြောဆိုသော သစ္စာဝါဒီများဖြစ်ကြပါလျှင် ဤ (ပြစ်ဒဏ် ကျရောက်ခြင်းနှင့် စပ်လျဉ်းသည့်) ကတိသည် မည်သည့်အခါ၌ အတည်ဖြစ်အံ့နည်း" ဟု ပြောဆိုကြကုန်သတည်း။

قُلْ لَا أَمْلِكُ لِنَفْسِي ضَرًّا وَلَا نَفْعًا إِلَّا مَا شَاءَ اللَّهُ ۗ لِكُلِّ أُمَّةٍ أَجَلٌ ۚ إِذَا جَاءَ أَجَلُهُمْ فَلَا يَسْتَأْخِرُونَ سَاعَةً

၄၉။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ၊ (အချင်းတို့) "ငါသည် အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူသော အရေးကိစ္စမှ တစ်ပါး မိမိကိုယ်နှင့်ပတ်သက်၍ မည်သည့်ကျိုးယုတ်၊ ဆုံးရှုံးစေခြင်းကိုမျှလည်းကောင်း၊ မည်သည့် အကျိုးကျေးဇူး ဖြစ်ထွန်းစေခြင်းကိုမျှလည်းကောင်း၊ ပိုင်ဆိုင်သည် မဟုတ်ပေ။

>> **"အွန်မွတ်"**

ဤအာယတ်တော်တွင် လာရှိသည့် "အွန်မွတ်" အုပ်စုဟူသည် အလ္လာဟ်အရှင်မြတ်က တာဝန်ထမ်းစေတော်မူလိုသော အုပ်စုကိုသာ ဆိုလိုသည်။ တမန်တော်တစ်ပါး ကွယ်လွန်သေဆုံးတော်မူပြီးနောက် အခြားတမန်တော်တစ်ပါး မပွင့်မီ-ကြားကာလ တွင် တရားဓမ္မနှင့် လုံးဝအဆက်ပြတ်နေသော သူများ၏ပြဿနာသည် အလိုလို ရှင်းနေပေသည်။ ၎င်းတို့အား တရားဓမ္မ တစ်စုံတစ်ရာ ဟောကြားသွန်သင် ဆုံးမခြင်းမရှိခြင်းကြောင့် ၎င်းတို့၌ တာဝန်တစ်စုံတစ်ရာမရှိ။ ၎င်းတို့နှင့်ပတ်သက်၍ ၎င်းတို့၏အရည်အချင်း၊ အသိတရား၊ ဉာဏ်အမြော်အမြင်နှင့် အမျှသာ စစ်ဆေးမေးမြန်းခြင်း ရှိပေမည်။ (မာဂျိဒီ)

② **"ရစူလ်"**

ဤအာယတ်တော်တွင်လာရှိသော ရစူလ်ဟူသောပုဒ်သည် သုံးစွဲလေ့ရှိသော ဝေါဟာရ၌မဟုတ်၊ အဘိဓာန်အဓိပ္ပာယ်၌သာဖြစ်သည်။ (ဝါ) အလ္လာဟ်အရှင်မြတ်၏ တရားဒေသနာတော်များကို ပို့ဆောင်သူဟူသော အဓိပ္ပာယ်၌ ဖြစ်၏။ ဤသည့်အဓိပ္ပာယ်တွင် ဝေါဟာရ၌သုံးစွဲသော နဗီ၊ ရစူလ်၊ တမန်တော်များနှင့် ထိုတမန်တော်များကတစ်ဆင့် စေလွှတ်သောကိုယ်စားလှယ်၊ တပည့်အားလုံးတို့သည် အကျုံးဝင်ပေသည်။ ဤသည့်အချက်ကို လေ့လာဆင်ခြင် မြော်မြင်၍ ပညာရှင်တို့က ဖွင့်ဆိုရေးသားကြသည်မှာ "အချို့ တိုင်းပြည်များနှင့် အချို့လူမျိုးများ၌ ဝေါဟာရအရ သုံးစွဲခေါ်ဝေါ်လေ့ရှိသော နဗီတမန်တော် တစ်ပါးပါး ပွင့်သည်၊ မပွင့်သည်ကို အတိအကျ မသိရှိရပေ။ ယင်းသို့ အတိအကျ မသိရှိရလျှင် ထိုတိုင်းပြည်၊ ထိုလူမျိုးများ၏ ကျော်ကြားသော တရားဓမ္မဟောကြားသည့် ရှေ့ဆောင်၊ လမ်းပြပုဂ္ဂိုလ်များနှင့် ပတ်သက်၍ ဆိတ်ဆိတ်နေခြင်းသည် ပို၍ သင့်ပေသည်။ အဘယ်ကြောင့်ဆိုသော် ထိုရှေ့ဆောင်၊ လမ်းပြများသည် နဗီတမန်တော်များလည်း ဖြစ်ကောင်းဖြစ်ကြပေမည်။ သို့မဟုတ် နဗီတမန်တော်များ၏ ကိုယ်စားလှယ်များလည်း ဖြစ်ကောင်းဖြစ်ကြပေမည်။

(မာဂျိဒီ။ အစောင် ၃။ စ- ၄၄၃။ အအ- ၇၄။)

وَّلَا يَسْتَقْدِمُوْنَ ﴿٤٩﴾

လူမျိုးတိုင်းတွင် သတ်မှတ်ပိုင်းခြားအပ်သော အချိန်ကာလသည်ရှိ၏။ ၎င်းတို့၏ သတ်မှတ်ပိုင်းခြားအပ်သောအချိန်ကာလ ရောက်ရှိလာသောအခါ ၎င်းတို့သည် တစ်နာရီခန့်မျှပင် ရွှေ့ဆိုင်းနိုင်ကြသည်လည်း မဟုတ်၊ စောနိုင်ကြသည်လည်း မဟုတ်ပေ။"

قُلْ اَرَءَيْتُمْ اِنْ اَتٰىكُمْ عَذَابُهٗ بَيَاتًا اَوْ نَهَارًا مَّاذَا يَسْتَعْجِلُ مِنْهُ الْمُجْرِمُوْنَ ﴿٥٠﴾

၅၀။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့) "အကယ်၍ အသင်တို့၌ ထိုအရှင်မြတ်၏ ပြစ်ဒဏ်သည် ညဉ့်အချိန်၌ဖြစ်စေ၊ နေ့အချိန်၌ဖြစ်စေ၊ (ရုတ်တရက်) ဆိုက်ရောက်လာခဲ့ပါလျှင် အသင်တို့သည် မည်သို့ယူဆကြမည်ကို ငါ့အားပြောပြကြလေကုန်။ (သို့ပါလျက်) ပြစ်မှု ကျူးလွန်သူတို့သည် မည်သည့်အတွက်ကြောင့် ထိုပြစ်ဒဏ်ကျရောက်ရန် အလျင်လိုကြသနည်း။

اَثُمَّ اِذَا مَا وَقَعَ اٰمَنْتُمْ بِهٖ ؕ آٰلْـٰٔنَ وَقَدْ كُنْتُمْ بِهٖ تَسْتَعْجِلُوْنَ ﴿٥١﴾

၅၁။ အဘယ်သို့ပါနည်း၊ ထိုပြစ်ဒဏ် ကျရောက်လာသည့်နောက်မှသာ အသင်တို့သည်ယင်းပြစ်ဒဏ်ကို ယုံကြည်ကြမည်လော၊ ယခုပင်(ယုံကြည်ကြလေ)လော့၊ အမှန်စင်စစ်သော်ကား အသင်တို့သည် ထိုပြစ်ဒဏ်နှင့် စပ်လျဉ်း၍ ဧကန်မလွဲ အလျင်လိုခဲ့လျက် ရှိနေကြကုန်သတည်း။

ثُمَّ قِيْلَ لِلَّذِيْنَ ظَلَمُوْا ذُوْقُوْا عَذَابَ الْخُلْدِ ۚ هَلْ تُجْزَوْنَ اِلَّا بِمَا كُنْتُمْ تَكْسِبُوْنَ ﴿٥٢﴾

၅၂။ ထိုနောက်(မိမိကိုယ်ကို) နှိပ်စက်ကလူ ပြုခဲ့ကြသောသူတို့သည် (ဤသို့ ပြောဆိုခြင်းကို ခံကြရပေမည်။) "အသင်တို့သည် အစဉ်ထာဝရတည်အံ့သော အပြစ်ဒဏ်၏ (အရသာ)ကို မြည်းစမ်းကြလေကုန်။ အသင်တို့သည် မိမိတို့ ရှာဖွေ ဆည်းပူးခဲ့ကြသည်တို့မှတစ်ပါး မည်သည်ကိုမျှ အစားပေးခြင်းကို ခံကြရသည် မဟုတ်ပေတကား။"

وَيَسْتَنْبِئُونَكَ أَحَقٌّ هُوَ قُلْ إِي وَرَبِّي إِنَّهُ لَحَقٌّ وَمَا أَنْتُمْ بِمُعْجِزِينَ ﴿٥٣﴾

၅၃။ ၎င်းပြင်ထိုသူတို့သည် အသင့်အား"ဤ(ပြစ်ဒဏ်ကျရောက်မည့်) ကိစ္စသည် မှန်ကန်ပါသလော" ဟုသတင်းမေးမြန်း စုံစမ်းကြကုန်သည်။ အသင်သည် (၎င်းတို့အား ဤသို့)ဖြေကြားပါလေ။ "ဟုတ်ပေသည် (ငါသည်) မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အားတိုင်တည်၍ပြောကြားအံ့၊ ဧကန်မလွဲ ဤကိစ္စသည် အမှန်သာလျှင်ဖြစ်သည်။ ထို့ပြင် အသင်တို့သည် (မိမိတို့၌ ထိုပြစ်ဒဏ် မကျရောက်စေရန်) တားဆီးထားနိုင်ကြမည့်သူများလည်း မဟုတ်ကြပေ။

وَلَوْ أَنَّ لِكُلِّ نَفْسٍ ظَلَمَتْ مَا فِي الْأَرْضِ لَافْتَدَتْ بِهِ ۗ وَأَسَرُّوا النَّدَامَةَ لَمَّا رَأَوُا الْعَذَابَ ۖ وَقُضِيَ بَيْنَهُمْ بِالْقِسْطِ ۚ وَهُمْ لَا يُظْلَمُونَ ﴿٥٤﴾

၅၄။ ထို့ပြင် အကယ်၍ (မိမိတို့ကိုယ်ကို မိမိတို့ပင်) နှိပ်စက်ကလူ ပြုကြကုန်သော 'မုရှ်ရစ်က်' (ဘုရားအများ ကိုးကွယ်)သူအသီးသီးတို့တွင် ကမ္ဘာအဝန်းနှင့်အမျှ အရာအားလုံးပိုင်ခဲ့လျှင် ထိုအရာအားလုံးတို့ကို *လျော်ကြေးအဖြစ်ပေး(၍ ပြစ်ဒဏ်မှ လွတ်မြောက်)လိုကြပေအံ့။* [1] ၎င်းပြင် ထိုသူတို့သည် ပြစ်ဒဏ်ကို (ဦးစွာပထမ)မြင်ကြရသောအခါတွင် (မိမိတို့စိတ်ထဲမှ *လျှို့ဝှက်စွာ) နောင်တရ (ဝမ်းနည်း)ကြကုန်အံ့။* [2] ထို့ပြင် (ထိုနေ့တွင်)၎င်းတို့၏အကြားဝယ် တရားမျှတစွာ စီရင်ဆုံးဖြတ်ပြီး ဖြစ်အံ့။ စင်စစ်သော်ကား ၎င်းတို့သည် မတရားပြုလုပ်ခြင်းကို (အနည်းငယ်စိုးစဉ်းမျှပင်) ခံကြရမည်မဟုတ်ပေ။

---

(၁) ကာဖိရ်များသည် နောင်တမလွန်ဘဝကို ယုံကြည်ကြသည်မဟုတ်၊ ဤမျက်မှောက်ဘဝ၌ပင် နစ်မွန်း၍နေကြ၏။ ဥစ္စာပစ္စည်းများကို အထူးခုံမင်ကြ၏။ ယင်းသို့သော ကာဖိရ်များသည် ကိယာမတ်နေ့တွင် မိမိတို့ခံစားကြရမည့် ပြစ်ဒဏ်ကို မျက်ဝါးထင်ထင် တွေ့မြင်ကြရသောအခါ ယင်းပြစ်ဒဏ်မှ လွတ်မြောက်ရန်အတွက် အကယ်တန္တု ၎င်းတို့၌ ကမ္ဘာအဝှန်းနှင့်အမျှ ပစ္စည်းဥစ္စာ ဘဏ္ဍာတော်များ ရှိနေပါက ယင်းသည့် ဘဏ္ဍာတော်အားလုံးကိုပင် လျော်ကြေးအဖြစ် ပေးသွင်းရန် အသင့်ရှိကြပေမည်။ ကမ္ဘာ့ဘဏ္ဍာတော်တိုက် အားလုံးကို မဆိုထားဘိ ပြစ်ဒဏ်တော်မှ လွတ်မြောက်မည်ဆိုပါက မိမိ၏သားသမီး၊ ဇနီး၊ ညီရင်းအစ်ကို မောင်ရင်းနှမများကိုပင် လျော်ကြေးအဖြစ် ပေးသွင်းကောင်းပေးသွင်းကြမည် ဖြစ်သည်။ သို့ရာတွင် ၎င်းတို့သည် ကမ္ဘာ့ဘဏ္ဍာတော် ➤➤

أَلَآ إِنَّ لِلَّهِ مَا فِى ٱلسَّمَٰوَٰتِ
وَٱلْأَرْضِ ۗ أَلَآ إِنَّ وَعْدَ ٱللَّهِ حَقٌّ
وَلَٰكِنَّ أَكْثَرَهُمْ لَا يَعْلَمُونَ ٥٥

**၅၅။** သတိပြုကြလေကုန်၊ ဧကန်စင်စစ် မိုးကောင်းကင်များ၌ရှိကုန်သော အရာဝတ္ထု အလုံးစုံတို့သည်လည်းကောင်း၊ ပထဝီမြေ၌ရှိကုန်သော အရာဝတ္ထု အလုံးစုံတို့သည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ် ပိုင်ဆိုင်တော်မူသော အရာဝတ္ထုချည်းသာ ဖြစ်ကြပေသည်။ သတိပြုကြလေကုန်၊ ဧကန်မလွဲ အလ္လာဟ် အရှင်မြတ် ထားရှိတော်မူသော ကတိတော်သည် မှန်ကန်သောကတိတော်ပင်ဖြစ်၏။ သို့ရာတွင် ၎င်းတို့ အနက် အများစုသည် မသိနားမလည်ကြချေ။

هُوَ يُحْىِۦ وَيُمِيتُ وَإِلَيْهِ
تُرْجَعُونَ ٥٦

**၅၆။** ထိုအရှင်မြတ်သည်သာလျှင် အသက်ရှင်စေတော်မူ၏။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည်ပင် အသက်သေစေတော်မူ၏။ ထိုမှတစ်ပါး ထိုအရှင်မြတ် ထံတော်သို့ပင် အသင်တို့သည် ပြန်လည်၍ ရောက်ရှိကြရပေမည်။

يَٰٓأَيُّهَا ٱلنَّاسُ قَدْ جَآءَتْكُم
مَّوْعِظَةٌ مِّن رَّبِّكُمْ وَشِفَآءٌ لِّمَا
فِى ٱلصُّدُورِ وَهُدًى وَرَحْمَةٌ

**၅၇။** အို-လူအပေါင်းတို့ မုချဧကန် အသင်တို့ထံသို့ အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် အထံတော်မှ ဆုံးမဩဝါဒတော်သည်လည်းကောင်း၊ ရင်များတွင်ရှိသော (ဝေဒနာများ)ကို ပျောက်ကင်းစေသော ဆေးသည်လည်းကောင်း၊ “မှအ်မင်န်” သက်ဝင်

---

➤➤ အားလုံးကို ပိုင်ဆိုင်ကြမည်လည်း မဟုတ်၊ ၎င်းတို့၏ မည်သည့် ‌ကောင်းကျိုးကိုမှလည်း လက်ခံတော်မူမည် မဟုတ်၊ အပြစ်ရှိသည့် အားလျော်စွာ ပြစ်ဒဏ်ခံကြရမည်သာဖြစ်သည်။တရားသဖြင့် အဆုံးအဖြတ်ခံကြရမည်သာ ဖြစ်ကြမည်။ အနည်းငယ်၊ စိုးစဉ်းမျှ မတရား ပြုခြင်းကို ခံကြရမည်ကား မဟုတ်။ ကြည့်- ကုရ်အာန် (၂း၄၈ နှင့် ၁၂၃။ ၃း၉၀။ ၅း၃၆။ ၁၃း၁၈။ ၃၉း၄၇။ ၅၇း၁၅။ ၇၀း၁၁-၁၅)

(၂) ကာဖိရ်များသည် ကိယာမတ်နေ့တွင် မိမိတို့ ခံစားရမည့် ပြစ်ဒဏ်ကို မျက်ဝါးထင်ထင် တွေ့မြင်ကြရသောအခါ မိမိတို့ မိုက်မှားခဲ့ကြသည်များအတွက် ကြေကွဲဝမ်းနည်းကြမည်။ ပထမသော် မိမိတို့၏ ကြေကွဲမှုကို သူတစ်ပါးတို့ မသိရှိစေရန် စိတ်တွင်း၌သာ မျိုသိပ်ထားကြမည်။ လျှို့ဝှက်ထားကြမည်။ သို့သော် ၎င်းတို့သည် အဘယ်အချိန်အထိ မျိုသိပ်ထားနိုင်ကြမည်နည်း။ နောက်ဆုံးတွင် ၎င်းတို့၏ ကြေကွဲမှု သည် ထင်ရှားသွားပေမည်။ ထင်ရှားသွားရုံမျှမက ၎င်းတို့ကိုယ်တိုင်ပင် ထုတ်ဖော် ပြောဆိုကြပေမည်။ (ကြည့်- ကုရ်အာန် (၂၁း၉၇။ ၃၉း၅၆-၆၀။)

لِّلْمُؤْمِنِيْنَ ۝٥٧ ယုံကြည်သူတို့အဖို့ တရားပြလမ်းညွှန်ခြင်းသည်လည်းကောင်း၊ ကရုဏာတော်သည်လည်းကောင်း ရောက်ရှိလာခဲ့လေပြီ။ ၁

① ဤအာယတ်တော်တွင် ကုရ်အာန်ကျမ်းမြတ်၏ ဂုဏ်ပုဒ်လေးရပ်ကို မိန့်ဆိုထားတော်မူ၏။

(၁) အဆုံးအမ ---- 'မော်အိဇဟ်'

(၂) ပျောက်ကင်းစေသောဆေး ----- 'ရှိဖာ'

(၃) တရားဓမ္မ --- 'ဟုဒါ'

(၄) ကရုဏာ ---- 'ရဟ်မတ်'

ဤသည့်ဂုဏ်ပုဒ်လေးရပ်နှင့် စပ်လျဉ်း၍ 'ရဟုလ်မအာနီကျမ်း' ရှင်က အခြားသုခမိန်များအား ကိုးကား၍ ဖွင့်ဆိုရေးသားသည်မှာ "လူသားတစ်ဦးသည် အထွတ်အထိပ်သို့ ရောက်ရှိရန် အဆင့်လေးဆင့် ရှိသည်။ ဤဂုဏ်ပုဒ်လေးရပ်သည် အဆိုပါ အဆင့်အတန်း လေးရပ်ကို အသီးသီး ညွှန်လျက်ရှိသည်။"

(၁) ပထမအဆင့်။ အပြင်အပကို သန့်ရှင်းစင်ကြယ်ခြင်း၊ (ဝါ) အပြစ်ဒုစရိုက်များမှ ရှောင်ကြဉ်ခြင်း 'မော်အိဇဟ်' အဆုံးအမဟူသောပုဒ်သည် ဤသည့် ရည်ရွယ်ချက်အတွက် ဖြစ်သည်။

(၂) ဒုတိယအဆင့်။ အတွင်းကို သန့်ရှင်း စင်ကြယ်ခြင်း (ဝါ) ယုတ်ညံ့သိမ်ဖျင်းသော အကျင့်များ၊ မှားယွင်းသော ယုံကြည်ချက်များမှ ရှောင်ကြဉ်ခြင်း၊ 'ရှိဖာ' ဟူသောပုဒ်သည် ဤသည့် ရည်ရွယ်ချက်အတွက်ပင် ဖြစ်သည်။

(၃) တတိယအဆင့်။ မှန်ကန်သော ယုံကြည်ချက်များ၊ ကောင်းမွန်မြင့်မြတ်သော အကျင့်စာရိတ္တများနှင့် ပြည့်စုံခြင်း၊ 'ဟုဒါ' ဟူသောပုဒ်သည် ဤသည့် ရည်ရွယ်ချက်အတွက်ပင် ဖြစ်သည်။

(၄) စတုတ္ထအဆင့်။ အလ္လာဟ်အရှင်မြတ်၏ ရောင်ခြည်တော်များဖြင့် လင်းဝင်းတောက်ပရခြင်း၊ (ဝါ) ထိုအရှင်မြတ်၏ ကရုဏာတော်များကို ခံလှံ့ရခြင်း၊ 'ရဟ်မတ်' ဟူသောပုဒ်သည် ဤသည့် ရည်ရွယ်ချက်အတွက်ပင် ဖြစ်သည်။ (မာဂျိဒီ)

ဤဂုဏ်ပုဒ်များသည် ကုရ်အာန်ကျမ်းတော်မြတ်၏ ဂုဏ်ပုဒ်လေးရပ်ပင် ဖြစ်သည်။ ကုရ်အာန်ကျမ်းတော်မြတ်သည် အစမှအဆုံးအထိ ဆုံးမဩဝါဒများ ဖြစ်သည်။ လူသားတို့အား ပျက်စီး၊ ဆုံးရှုံး၊ နစ်နာစေသည့် ဒုစရိုက်အပေါင်းတို့မှ တားမြစ်၏။ ဤကုရ်အာန်ကျမ်းတော်မြတ်သည် အတွင်းရောဂါ အားလုံးအဖို့ ပျောက်ကင်းစေသည့် ဆေးတော်တစ်ပါးလည်းဖြစ်၏။ ဤကုရ်အာန်ကျမ်းတော်မြတ်သည် အလ္လာဟ်အရှင်မြတ် ထံတော်ပါးသို့ရောက်ရှိရန်နှင့်ထိုအရှင်မြတ်၏။ ကျေနပ်မှုကိုရရှိစေရန်အတွက် တရားဓမ္မလည်းမည်၏၊ ဤကုရ်အာန်ကျမ်းတော်မြတ်သည် မိမိကို ယုံကြည်သော သူများအား ဤမျက်မှောက်ဘဝ၌ လည်းကောင်း၊ နောင်တမလွန်ဘဝ၌ လည်းကောင်း အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်များတွင် ခိုလှုံခွင့်ရရှိစေရန် ဖန်တီးပေးသည့် ကရုဏာတရားလည်း မည်၏။

ကုရ်အာန်ကျမ်းတော်မြတ်သည် မိမိ၌ ဤသည့်ဂုဏ်ပုဒ်များ ရှိသည်ကို အကြောင်းမဲ့ ကြွေးကြော်ထားသည်မဟုတ်၊ ဤသည့်စွမ်းရည်သတ္တိများသည် ကုရ်အာန်ကျမ်းတော်မြတ်တွင် အမှန်ပင်ရှိသည်။

အကယ်၍ ပုဂ္ဂိုလ်တစ်ဦးက ၎င်းသည် ဆရာဝန်ဖြစ်သည်ဟု ပြောဆိုပါလျှင် ၎င်းအား စမ်းသပ်ရန် အတွက် အလွယ်ဆုံးနှင့် အမှန်ဆုံးနည်းမှာ ထိုဆရာဝန်၏ဆေးဖြင့် ရောဂါသည်များ ရောဂါ ➤➤

قُلۡ بِفَضۡلِ ٱللَّهِ وَبِرَحۡمَتِهِۦ فَبِذَٰلِكَ فَلۡيَفۡرَحُواْ هُوَ خَيۡرٞ مِّمَّا يَجۡمَعُونَ ۝٥٨

၅၈။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အားဤသို့)ပြောကြားပါလေ။ (အချင်းတို့) "အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကြောင့်လည်းကောင်း၊ ထိုအရှင်မြတ်၏ ကရုဏာတော်ကြောင့်လည်းကောင်း၊ ဤသည်တို့ကိုအကြောင်းပြု၍ လူသားတို့သည် ဝမ်းမြောက်သင့်ကြပေသည်။ ထို(ကျေးဇူးတော်ကရုဏာတော်)သည်ကား ၎င်းတို့ စုဆောင်းလျက်ရှိကုန်သော (လောကီ)ဥစ္စာပစ္စည်းများထက် လွန်စွာပိုမို၍ ကောင်းမြတ်ပေသတည်း။ ၁

➤➤ ပျောက်ကင်း၍ကျန်းမာလာသည်၊ မလာသည်ကို ကြည့်ရှုခြင်းပင် ဖြစ်သည်။ အကယ်၍ သေအံ့ဆဲဆဲ ရောဂါသည်တစ်ဦးသည် ၎င်း၏ဆေးကိုစားသုံး၍ ကျန်းမာသန်စွမ်းလာသည်ရှိသော် ထိုပုဂ္ဂိုလ်သည် ဆရာဝန် ဖြစ်သည်ဟု လက်ခံရမည်ပင် ဖြစ်သည်။ ကုရ်အာန်ကျမ်းတော်မြတ်ကလည်း နေရာအမြောက်အမြားတွင် ဆေးတစ်ပါးဖြစ်သည်ဟု ကြွေးကြော်ထား၏။ ယင်းသို့ ကြွေးကြော်ထားသည်ကို စမ်းသပ်ရန် အလွယ်ဆုံးနည်းမှာ အထက်ဖော်ပြပါ စမ်းသပ်နည်းအရ ကုရ်အာန်၏ ဆေးကိုစားသုံး၍ ရောဂါသည်များသက်သာ ကျန်းမာလာခဲ့ကြခြင်း ရှိ၊ မရှိ ကြည့်ရှုရန်ပင်ဖြစ်သည်။ ဤသည့်အချက်နှင့်စပ်လျဉ်း၍ လေ့လာကြည့်ရှုသောအခါ ကုရ်အာန်၏ ဆေးကို စားသုံး၍ ရောဂါသည်အမြောက်အများတို့သည် ကျန်းမာသန်စွမ်းသော သူတော်စင် အုပ်စုကြီးတစ်ခုအဖြစ် ပေါ်ထွန်းလာခဲ့ကြသည်မှာ ရာဇဝင်အထင်အရှားပင်။

ကုရ်အာန်သည် ကိယာမတ်တိုင်တည်ရှိမည့် ကျမ်းတစ်ဆူဖြစ်သည်။ ကုရ်အာန်သည် အတိတ်ကာလက ရောဂါသည်တို့အား ကျန်းမာသန်စွမ်းစေရန် ပြုဆောင်နိုင်ခဲ့သည့်အလား ယခုလည်း ကျန်းမာသန်စွမ်းစေရန် ပြုဆောင်နိုင်ပေသည်။ အမိုက်ခေတ်၏ ရောဂါသည်များအနက် ဟဇရတ် အဗူဗတ်ကဲရ်၊ ဟဇရတ်အုမရ်၊ ဟဇရတ်အလီ၊ ဟဇရတ်ခါလစ်ဒ်၊ ဟဇရတ်စလ်မာန်၊ ဟဇရတ်အဗုဇရ် စသည့် ပုဂ္ဂိုလ်တို့အား ကျန်းမာသန်စွမ်းကြစေရန် ဖန်တီး စွမ်းဆောင်နိုင်ခဲ့လျှင် ယခုလည်း ဖန်တီးစွမ်းဆောင်နိုင်မည်မှာ မြေကြီးလက်ခတ် မလွဲပင်ဖြစ်သည်။ ဤတွင် ဒွိဟ၊ သံသယဖြစ်ရန် အကြောင်း အလျင်းမရှိပေ။

(အဗူလ်ကလာမ်အာဇာဒ်၊ အစောင် ၂၊ စ- ၁၅။)

**ဖော်ပြချက်။**

ဤအာယတ်တော် အဆုံး၌ (للمؤمنين) 'မုအ်မင်န်များအဖို့' ဟူ၍ ပါရှိ၏။ ကျွန်ုပ်၏ ယူဆချက်အရ ဤသည် အထက်ဖော်ပြပါ ဂုဏ်ပုဒ်များ၏ အကျိုးကျေးဇူးများ စံစားနိုင်ရန်အတွက် စည်းကမ်းချက် တစ်ရပ်ပင် ဖြစ်ချေသည်။ အဘယ်ကြောင့်ဆိုသော် မုအ်မင်န်များသာလျှင် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို လိုက်နာကျင့်သုံး၍ အဆိုပါ ဂုဏ်ပုဒ်များ၏ အကျိုးကျေးဇူးများကို ခံစားနိုင်ကြပေသည်။ ဤသည့်သဘောကိုပင်ကုရ်အာန်ကျမ်းတော်မြတ်၏ (၂း၂၈၇။ ၃း၁၃၇။ ၅း၄၆။ ၇း၅၂၊၂၀၃။ ၁၀း၅၇။ ၁၂း၁၁၁။ ၁၆း၆၄၊၈၉၊၁၀၂။ ၁၇း၈၂။ ၂၇း၂၇၇။ ၄၀း၄၄။ ၄၅း၂၀) တို့တွင် မိန့်ဆိုထားတော်မူသည်။ (ထာနဗီ)

၁ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ ဟဒီးဆ် သြဝါဒတော်၌ လာရှိသည်မှာ ➤➤

قُلْ أَرَءَيْتُم مَّآ أَنزَلَ ٱللَّهُ لَكُم مِّن رِّزْقٍ فَجَعَلْتُم مِّنْهُ حَرَامًا وَحَلَٰلًا قُلْ ءَآللَّهُ أَذِنَ لَكُمْ ۖ أَمْ عَلَى ٱللَّهِ تَفْتَرُونَ ﴿٥٩﴾

၅၉။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့အသို့နည်း) "အသင်တို့သည် (ငါ့အား ပြောကြားလေကုန်၊) အလ္လာဟ် အရှင်မြတ်က ပေးသနားတော်မူခဲ့သော စားနပ်ရိက္ခာတို့ကို၊ ထို(သို့ ချပေးသနားတော်မူပြီး) နောက်တွင် အသင်တို့သည် ယင်းစားနပ်ရိက္ခာများ အနက်မှ *အချို့ကို "ဟရာမ်" (စားပိုင်ခွင့်မရှိ)ဟူ၍ လည်းကောင်း၊ (အချို့ကို) "ဟလာလ်" (စားပိုင်ခွင့် ရှိသည်)ဟူ၍လည်းကောင်း၊* [၁] သတ်မှတ်ခဲ့ကြသည်ကို စေ့စေ့စဉ်းစား ဆင်ခြင်ပြီး ဖြစ်ကြလေသလော။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့) ပြောဆိုမေးမြန်းပါလေ။ (အချင်းတို့) အသို့ပါနည်း၊ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား ခွင့်ပြုတော်မူခဲ့ပါသလော၊ သို့တည်းမဟုတ် အသင်တို့သည် အလ္လာဟ်အရှင်မြတ်အပေါ်၌ လီဆယ် စွပ်စွဲကြလေသလော။

---

➤➤ "အကြင်သူအား အလ္လာအရှင်မြတ်သည် အစ္စလာမ်ကို ညွှန်ပြတော်မူအံ့။ ၎င်းအား ကုရ်အာန်ကျမ်းတော်မြတ်ကိုလည်း တတ်မြောက်သိနားလည်စေတော်မူအံ့။ ထိုနောက် ထိုသူသည် ဆင်းရဲနွမ်းပါးမှုအတွက် ညည်းညူတိုင်တမ်းပါက အလ္လာဟ်အရှင်မြတ်သည် ထိုသူ့အတွက် ကိယာမတ်တိုင် ဆင်းရဲမှုကို ရေးမှတ်တော်မူအံ့။" ထို့နောက် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစ္စလ္လမ်)သည် ဤအာယတ်တော်(၁၀း၅၈)ကို (သာဓကအဖြစ်) ရွတ်ဖတ်တော်မူလေသည်။ (နဖစီ။ အစောင်-၂၊ စာမျက်နှာ-၁၂၈)

(၁) ကုရ်အာန်ကျမ်းတော်မြတ်သည် နက်နဲ၊ သိမ်မွေ့၊ ပြည့်ဝစုံလင်လှသည့် အဆုံးအမလည်း ဖြစ်၏။ ရောဂါများအတွက် ဆေးဝါးလည်းဖြစ်၏၊ တရားဓမ္မလည်း ဖြစ်၏၊ ကရုဏာတော်လည်း မည်၏။ ဤသို့သော ကျမ်းတော်မြတ်ကိုသာလျှင် အထောက်အထား၊ အကိုးအကားပြုအပ်၏။ ဤသို့သော ကျမ်းတော်မြတ်ဖြင့်သာလျှင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို သိရှိနိုင်၏။ ပြုအပ်၊ မပြုအပ်၊ ပြုပိုင်၊ မပြုပိုင် စသည့် အမိန့်ပညတ်တော်များကိုလည်း ဤသို့သောကျမ်းတော်မြတ်ဖြင့်သာလျှင် ခွဲခြားသိမြင်နိုင်၏။ ယခုမူ မုရှ်ရစ်က်တို့သည် မိမိတို့ ထင်မြင်ယူဆ၊ အာသာဆန္ဒရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ် ချီးမြှင့်ပေးသနား တော်မူသော စားနပ်ရိက္ခာတော်များအနက် အချို့ကို 'ဟလာလ်' စားသုံးပိုင်သည်။ အချို့ကို 'ဟရာမ်' မစားသုံးပိုင်ဟု သတ်မှတ်လျက် ရှိကြပေသည်။ ဤသည် မုရှ်ရစ်က်တို့၏ မိုက်မဲမှုပင် ဖြစ်သည်။ ယင်းမုရှ်ရစ်က်တို့၌ 'ဟလာလ်၊ ဟရာမ်' ပြုပိုင်ခွင့် အာဏာသည် အသို့လျှင် ရှိနိုင်ပါအံ့နည်း။ ➤➤

وَمَا ظَنُّ الَّذِينَ يَفْتَرُونَ عَلَى اللَّهِ الْكَذِبَ يَوْمَ الْقِيَامَةِ ۗ إِنَّ اللَّهَ لَذُو فَضْلٍ عَلَى النَّاسِ وَلَٰكِنَّ أَكْثَرَهُمْ لَا يَشْكُرُونَ ﴿٦٠﴾

၆၀။ ထို့ပြင် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့နှင့် စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်အပေါ်၌ မုသားကို လီဆယ်စွပ်စွဲကြကုန်သောသူတို့၏ ထင်မြင်ယူဆချက် သည် မည်သို့ရှိသနည်း။ ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် လူတို့အပေါ်၌ *အမှန်ပင် ကျေးဇူး တော်ရှင် ဖြစ်တော်မူပေသည်။*[၁] သို့ရာတွင် ၎င်းတို့ အနက် အများဆုံးသော သူတို့မှုကား ကျေးဇူးတော် ကို မသိတတ်ကြချေ။

وَمَا تَكُونُ فِي شَأْنٍ وَمَا تَتْلُو مِنْهُ مِنْ قُرْآنٍ وَلَا تَعْمَلُونَ مِنْ عَمَلٍ إِلَّا كُنَّا عَلَيْكُمْ شُهُودًا إِذْ تُفِيضُونَ فِيهِ ۚ وَمَا يَعْزُبُ عَنْ رَبِّكَ مِنْ مِثْقَالِ ذَرَّةٍ فِي الْأَرْضِ وَلَا فِي السَّمَاءِ وَلَا

၆၁။ (အို-နဗီတမန်တော်) အသင်သည် မည်သည့် အခြေအနေ၌မဆို ရှိနေသည်ကိုလည်းကောင်း၊ ထို အခြေအနေတွင် အသင်သည် ကုရ်အာန်ကျမ်းတော် မြတ်ကိုရွတ်ဖတ်သရဇ္ဈာယ်လျက် ရှိနေသည်ကိုလည်း ကောင်း၊ အသင်တို့သည် မည်သည့် အလုပ်မျိုးကိုမဆို ပြုလုပ်လျက်ရှိနေကြသည်ကိုလည်းကောင်း၊ အသင်တို့ ထိုကိစ္စကို အာရုံစိုက်၍ စတင်ဆောင်ရွက်ကြသော အချိန်အခါတွင် ငါအရှင်မြတ်သည် အသင်တို့အပေါ် ဝယ် အသိသက်သေဖြစ်တော်မူသည်သာတည်း။

>> ကုရ်အာန်ကျမ်းတော်မြတ်၏ ကဏ္ဍ (၅)နှင့် (၆) တွင် ဤသည့်အကြောင်း အကျယ်တဝင့်ပါရှိခဲ့လေပြီ။

(၁) "ဧကန်မုချ အလ္လာဟ်အရှင်မြတ်သည် လူသားတို့အပေါ်တွင် အမှန်ပင်ကျေးဇူးတော်ရှင် ဖြစ်တော်မူသည်"။ လူသားတို့သည် အပြစ်ကျူးလွန်ကြ၏၊ အလ္လာဟ်အရှင်မြတ် အပေါ်၌ပင် မုသား စွပ်စွဲပြောဆိုကြ၏။ သို့တစေလည်း ထိုအရှင်မြတ်သည် ကျေးဇူးတော်ရှင် ဖြစ်တော်မူသည့်အတွက် ချက်ချင်း ပြစ်ဒဏ်ပေးတော် မမူချေ။ ဝန်ချတောင်းပန်နိုင်ကြရန်အတွက် လျစ်လျူပြုထားတော်မူ၏။ ယင်းသို့ လျစ်လျူပြု ထားတော်မူခြင်းသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင် ဖြစ်သည်။

ထိုအချိန်မျိုးတွင် ဝန်ချတောင်းပန်သင့်ကြပေသည်။ ယခုသော် ဝန်ချတောင်းပန်ခြင်း မပြုကြသည့်အပြင် ပို၍ပင် အတင့်ရဲလာကြပေသည်။ ဤအချက်ကိုပင် ကုရ်အာန်ကျမ်းတော်မြတ်၌ "သို့သော် လူသားတို့အနက် မြောက်များစွာသော သူများသည် ကျေးဇူးမသိတတ်ကြပေ" ဟု မိန့်ထားတော်မူခြင်း ဖြစ်သည်။

أَصْغَرَ مِنْ ذَٰلِكَ وَلَآ أَكْبَرَ إِلَّا فِي كِتَٰبٍ مُّبِينٍ ﴿٦١﴾

စင်စစ်သော်ကား ပထဝီမြေ၌လည်းကောင်း၊ မိုးကောင်းကင်၌လည်းကောင်း၊ ရှိသည့်အနည်းငယ် စိုးစဉ်းမျှ(သောအရာဝတ္ထု)သည်ပင်လျှင် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်(၏ အသိ)မှ ပျောက်ကွယ်နေသည်မဟုတ်ပေ။ ထိုမှတစ်ပါး ယင်း ထက်သေးငယ်သော(အရာဝတ္ထုသည်)လည်းကောင်း၊ (ယင်းထက်)ကြီးသော(အရာဝတ္ထုသည်)လည်းကောင်း၊ ထင်ရှားစွာသော (မှတ်တမ်းတော်)စာအုပ်တွင် (ရေး သားပြီး) ရှိနေသည်သာတည်း။

أَلَآ إِنَّ أَوْلِيَآءَ ٱللَّهِ لَا خَوْفٌ عَلَيْهِمْ وَلَا هُمْ يَحْزَنُونَ ﴿٦٢﴾

၆၂။ (အို-ကြားနာသူ အပေါင်းတို့ အသင်တို့သည်) သတိပြုကြလေကုန်၊ အလ္လာဟ်အရှင်မြတ်၏ အဆွေ တော်တို့ အပေါ်၌မူကား တစ်စုံတစ်ရာ ကြောက်ရွံ့ စိုးရိမ်ဖွယ်ရာလည်း [၁] ရှိလိမ့်မည် မဟုတ်ပေ၊ ထို့ပြင် ၎င်းတို့သည် ဝမ်းနည်းပူဆွေးကြမည်လည်းမဟုတ်ချေ။

ٱلَّذِينَ ءَامَنُوا۟ وَكَانُوا۟ يَتَّقُونَ ﴿٦٣﴾

၆၃။ ၎င်း(အဆွေတော်)တို့သည် အကြင်သူတို့ပင် ထိုသူတို့သည် 'အီမာန်' ယုံကြည်မှုထားရှိကြသည့်ပြင် (ပြစ်မှုဒုစရိုက်များမှလည်း) ရှောင်ကြဉ်လျက် ရှိခဲ့ကြ ကုန်သတည်း။ [၂]

(၁) ကြောက်ရွံ့မှုဟူသည် အလ္လာအရှင်မြတ်အား ကြောက်ရွံ့မှုကို ဆိုလိုသည်မဟုတ်၊ ပူဆွေးမှုဟူသည် နောင်တမလွန်ဘဝ၏ ပူဆွေးမှုကို ဆိုလိုသည်မဟုတ်၊ ရန်သူများ၏ ဆန့်ကျင်မှုများကြောင့် ဖြစ်ပေါ်လာနိုင်သည့် လောကီဆိုင်ရာ ကြောက်ရွံ့မှုနှင့် ပူဆွေးမှုကို ဆိုလိုသည်။ ဤသည့်ကြောက်ရွံ့မှုနှင့် ပူဆွေးမှုများသည် ပြည့်ဝ၊ စုံလင်၊ ပီပြင်ကြသော မုအ်မင်န်များ၌ မရှိပေ။ အဘယ်ကြောင့်ဟူမူ ၎င်းတို့သည် အမြဲတစေ အလ္လာဟ်အရှင်မြတ်အား ယုံပုံလွှဲအပ်ထားကြသည်၊ ဖြစ်ပျက်သမျှသော ကိစ္စအဝဝတွင်လည်း အကျိုးထူး ရှိသည်ဟု ယုံကြည်ကြသည်။ (ထာနဝီ၊ အစောင်၅၊ စ- ၂၃။)

(၂) ကုရ်အာန်ကျမ်းတော်မြတ် (၁၀း၆၂)တွင် အလ္လာဟ်အရှင်မြတ်၏ 'ဝလီ၊ အောင်လိယာ' များအကြောင်း ပါရှိ၏။ ဤအာယတ်တော်(၁၀း၆၃)တွင် ယင်း'ဝလီ၊ အောင်လိယာ' များ၏ ဂုဏ်ထူးဝိသေသများကို ထုတ်ဖော် မိန့်ဆိုထားတော်မူသည်။ 'ဝလီ' 'အောင်လိယာ' များသည် အီမာန်ယုံကြည်ကြသည်။ ဒုစရိုက်မှု အပေါင်းတို့မှ ရှောင်ကြဉ်ကြသည်။ 'အီမာန်' နှင့် 'တက္ကဝါ' သည် 'ဝလီ' 'အောင်လိယာ' တို့၏ အဓိကအင်္ဂါရပ်များပင် ဖြစ်သည်။

➤➤

၆၄။ ယင်း(အဆွေတော်)တို့အဖို့ လောကီဘဝတွင်လည်းကောင်း၊ တမလွန်ဘဝတွင် လည်းကောင်း၊ ဝမ်းမြောက်ဖွယ်ရာ သတင်းကောင်းသည် ရှိပေသည်။ အလ္လာဟ်အရှင်မြတ်၏အာယတ်တော်များ၌ ပြောင်းလဲခြင်း အလျင်းမရှိချေ။ ဤသည်သာလျှင် ကြီးကျယ်မြင့်မြတ်လှစွာသော အောင်မြင်မှုပေတည်း။

لَهُمُ الْبُشْرٰى فِى الْحَيٰوةِ الدُّنْيَا وَفِى الْاٰخِرَةِ ؕ لَا تَبْدِيْلَ لِكَلِمٰتِ اللّٰهِ ؕ ذٰلِكَ هُوَ الْفَوْزُ الْعَظِيْمُ ﴿٦٤﴾

၆၅။ (အို-နဗီတမန်တော်) အသင့်အား ၎င်းတို့၏ပြောဆိုမှုသည် ဝမ်းနည်းပူဆွေးခြင်းမဖြစ်စေရ၊ ဧကန်စင်စစ် တန်ခိုးသတ္တိ (ဩဇာအာဏာ)အလုံးစုံတို့သည် အလ္လာဟ်အရှင်မြတ်၌သာရှိကုန်၏။ [၁] ထိုအရှင်မြတ်သည် (ပြောဆိုမှုအလုံးစုံတို့ကို) အကြွင်းမဲ့ ကြားတော်မူသောအရှင် (အရာခပ်သိမ်းတို့ကို) အကြွင်းမဲ့ သိမြင်တော် မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

وَلَا يَحْزُنْكَ قَوْلُهُمْ ۘ اِنَّ الْعِزَّةَ لِلّٰهِ جَمِيْعًا ؕ هُوَ السَّمِيْعُ الْعَلِيْمُ ﴿٦٥﴾

---

➤➤ ငွေတဆယ်၊ တဆယ့်ငါးကျပ်သည်လည်း ပိုက်ဆံပင်ဖြစ်၏။ ငွေငါးဆယ်၊ တရာသည်လည်း ပိုက်ဆံပင်ဖြစ်၏။ ငွေနှစ်ထောင်၊ သုံးထောင်သည်လည်း ပိုက်ဆံပင်ဖြစ်၏။ ငွေလေးငါးဆယ်သိန်းသည်လည်း ပိုက်ဆံပင်ဖြစ်၏။ သို့ရာတွင် လူ့လောကရှိ လူသားတို့၏ဝေါဟာရအသုံးအနှုန်းတွင် ငွေနှစ်ဆယ်၊ နှစ်ဆယ့်ငါးကျပ်ရှိသူကို သူဌေးဟူ၍မခေါ်ဆိုကြ၊ ပိုက်ဆံရွှေငွေ အမြောက်အမြားရှိသူကိုသာ သူဌေးဟုခေါ်ဆိုကြသည်။ ထိုနည်း တူစွာပင် အီမာန်နှင့်တက္ကဝါသည် နိမ့်သည်ဖြစ်စေ၊ မြင့်သည်ဖြစ်စေ၊ များသည်ဖြစ်စေ၊ နည်းသည်ဖြစ်စေ၊ အီမာန်နှင့်တက္ကဝါပင်ဖြစ်၏။ ဤသို့အားဖြင့် အီမာန်နှင့်တက္ကဝါ နည်းများမဆိုရှိသောမုအ်မင်န်တိုင်းကို 'ဝလီ' 'အောင်လိယာ' ဟုခေါ်ဆိုနိုင်သော်လည်း ဝေါဟာရတွင်မူ အီမာန်နှင့်တက္ကဝါ မြင့်မားများပြားစွာရှိသော ပုဂ္ဂိုလ်များကိုသာလျှင် 'ဝလီ'၊ 'အောင်လိယာ' ဟု ခေါ်ဆိုကြပေသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဩဝါဒတော်များတွင် 'ဝလီ' 'အောင်လိယာ' များ၏ နိမိတ်လက္ခဏာအချို့တို့ကို ဖော်ပြထားတော်မူသည်။ (၁) ၎င်းတို့အား တွေ့မြင်ရလျှင် အလ္လာဟ်အရှင်မြတ်ကို အောက်မေ့တသ သတိရလာခြင်း၊ (၂) ၎င်းတို့သည် သတ္တဝါအပေါင်းတို့အား တစ်စုံတစ်ရာပရိယာယ်မပါဘဲ စိတ်ရင်းစေတနာဖြူစင်စွာဖြင့် ချစ်ခင်ခြင်း စသည်တို့ ဖြစ်ပေသည်။

[၁] ကာဖိရ်၊ မုရှ်ရစ်က်တို့၏ မဟုတ်မမှန် ပြောဆိုမှုများကြောင့် လူ့သဘာဝအလျောက် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် စိတ်ဆင်းရဲ ငြိုငြင်တော်မူမည်မှာ အမှန်ပင်ဖြစ်သည်။ ထို့အတွက် ဤအာယတ်တော်တွင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ထိုသို့ စိတ်မဆင်းရဲ၊ မငြိုငြင်တော်မူရန် နှစ်သိမ့်တော်မူခြင်းဖြစ်သည်။ ဩဇာအာဏာ တန်ခိုးအားလုံးတို့သည် အလ္လာဟ်အရှင်မြတ်၌သာ ရှိသည်။ ထိုအရှင်မြတ်သည် မိမိဩဇာအာဏာများဖြင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် အစ္စလာမ်ကို ထိန်းသိမ်းကာကွယ်တော်မူထားခြင်းသာ ဖြစ်တော်မူသည်။ ဤကား ရာဇဝင်အထင်အရှားပင်။ (မာဂျိဒီ)

أَلَآ إِنَّ لِلَّهِ مَن فِى ٱلسَّمَٰوَٰتِ
وَمَن فِى ٱلْأَرْضِ ۗ وَمَا يَتَّبِعُ
ٱلَّذِينَ يَدْعُونَ مِن
دُونِ ٱللَّهِ شُرَكَآءَ ۚ إِن
يَتَّبِعُونَ إِلَّا ٱلظَّنَّ وَإِنْ
هُمْ إِلَّا يَخْرُصُونَ ﴿٦٦﴾

၆၆။ (အို-ကြားနာရသူ အပေါင်းတို့) အသင်တို့သည် (ကောင်းစွာ) သတိမူကြလေကုန်၊ ဧကန်အမှန် မိုးကောင်းကင်၌ရှိသူတို့ကိုလည်းကောင်း၊ ကမ္ဘာမြေပြင်ဝယ် ရှိသူတို့ကိုလည်းကောင်း၊ အလ္လာဟ်အရှင်မြတ်သည်သာလျှင် ပိုင်ဆိုင်တော်မူ၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်အပြင် အခြားကို နှိုင်းယှဉ်ဘက်များအဖြစ် ဟစ်ခေါ်ကိုးကွယ်ကြကုန်သော သူတို့သည် (မိမိတို့၏)ထင်မြင်ယူဆချက်မှအပ အခြားတစုံတရာကို လိုက်နာကြသည်မဟုတ်ပေ။ စင်စစ်မူကား ၎င်းတို့သည်ရမ်းဆ(ကျင့်ကြံ)နေကြသည်သာတည်း။

هُوَ ٱلَّذِى جَعَلَ لَكُمُ
ٱلَّيْلَ لِتَسْكُنُوا۟ فِيهِ
وَٱلنَّهَارَ مُبْصِرًا ۚ إِنَّ فِى
ذَٰلِكَ لَءَايَٰتٍ لِّقَوْمٍ
يَسْمَعُونَ ﴿٦٧﴾

၆၇။ ထိုအရှင်မြတ်သည် အကြင် အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် အသင်တို့အဖို့ ညဥ့်ကို အသင်တို့ အိပ်စက်နားနေကြရန်လည်းကောင်း၊ နေ့ကို မြင်နိုင်စွမ်းရှိစေသောအရာအဖြစ်လည်းကောင်း၊ ပြုလုပ် ဖန်ဆင်းတော်မူခဲ့ပေသည်။ ဤ(မည်သော)အချက်တို့တွင် (အာရုံစိုက်လျှင်) ကြားနာသူတို့အဖို့ သက်သေသာဓကများသည် ရှိချေသတည်း။

قَالُوا۟ ٱتَّخَذَ ٱللَّهُ وَلَدًا
سُبْحَٰنَهُۥ ۖ هُوَ ٱلْغَنِىُّ ۖ لَهُۥ مَا فِى
ٱلسَّمَٰوَٰتِ وَمَا فِى ٱلْأَرْضِ ۚ
إِنْ عِندَكُم مِّن سُلْطَٰنٍۭ
بِهَٰذَآ ۚ أَتَقُولُونَ عَلَى ٱللَّهِ
مَا لَا تَعْلَمُونَ ﴿٦٨﴾

၆၈။ ထိုသူတို့က 'အလ္လာဟ်အရှင်မြတ်၌' သားရှိသည်ဟု ပြောဆိုကြကုန်၏။ ထိုအရှင်မြတ်သည် (ဖန်ဆင်းထားခြင်း ခံရသူတို့နှင့် အကြောင်းစပ်ဆိုင်ခြင်း၊ အမျိုးတော်စပ်ခြင်းတို့မှ လုံးဝ) ကင်းရှင်းစင်ကြယ်တော်မူ၏။ ထိုအရှင်မြတ်သည် လိုလား၊ တောင့်တခြင်း ကင်းမဲ့တော်မူသော အရှင်မြတ် ဖြစ်တော် မူ၏။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည် လည်းကောင်း၊ ပထဝီမြေ၌ ရှိသမျှတို့သည် လည်းကောင်း၊ ထိုအရှင်မြတ် ပိုင်ဆိုင်တော်မူသော အရာများသာတည်း။

အသင်တို့၌ ဤ(မဟုတ်မမှန်သော ပြောဆိုစွပ်စွဲမှု)နှင့်စပ်လျဉ်း၍ မည်သည့်သက်သေသာဓကမျှပင် မရှိချေ။ အသင်တို့သည် မိမိတို့ မသိနားမလည်သောစကားကို အလ္လာဟ်အရှင်မြတ်အပေါ်၌ လီဆယ်၍ ပြောဆိုကြလေသလော။

၆၉။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့) စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်အပေါ်၌ မုသားကို လီဆယ်စွပ်စွဲကြကုန်သော သူတို့သည် အလျင်းအောင်မြင်ကြမည် မဟုတ်ပေတကား။

قُلْ اِنَّ الَّذِيْنَ يَفْتَرُوْنَ عَلَى اللّٰهِ الْكَذِبَ لَا يُفْلِحُوْنَ ﴿٦٩﴾

၇၀။ (၎င်းတို့အဖို့) လောကီဘဝတွင် အကျိုးခံစားခြင်း အနည်းငယ်မျှသာ ရှိပေသည်။ ထို့နောက် ၎င်းတို့သည် ငါအရှင်မြတ် အထံတော်တို့သာလျှင် ပြန်လည်ရောက်ရှိရပေမည်။ ထို့နောက် ငါအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့ သွေဖည်ငြင်းပယ်လျက်ရှိခဲ့ကြသောကြောင့် ပြင်းထန်စွာသော ပြစ်ဒဏ်(၏ရသာ)ကို မြည်းစမ်းစေတော်မူမည် ဖြစ်ပေသတည်း။

مَتَاعٌ فِى الدُّنْيَا ثُمَّ اِلَيْنَا مَرْجِعُهُمْ ثُمَّ نُذِيْقُهُمُ الْعَذَابَ الشَّدِيْدَ بِمَا كَانُوْا يَكْفُرُوْنَ ﴿٧٠﴾

၇၁။ ထို့ပြင် (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့၏ရှေ့ဝယ် (နဗီတမန်တော်) 'နူးဟ်' ၏ *အတ္တုပ္ပတ္တိ* [၁] အကြောင်းကိုဖတ်ကြားပါလေ။ တရံရောအခါဝယ် (နဗီတမန်တော်)'နူးဟ်'သည် မိမိအမျိုးသားတို့အား (ဤသို့)ပြောကြားခဲ့လေသည်။

وَاتْلُ عَلَيْهِمْ نَبَاَ نُوْحٍ ۘ اِذْ قَالَ لِقَوْمِهٖ يٰقَوْمِ اِنْ كَانَ كَبُرَ عَلَيْكُمْ مَّقَامِىْ وَتَذْكِيْرِىْ بِاٰيٰتِ اللّٰهِ

(၁) ဤအာယတ်တော်တွင် မက္ကာမြို့သားများအား တမန်တော်နူးဟ်(အလိုင်ဟစ္စလာမ်)၏ အမျိုးသားများ၏ အတ္တုပ္ပတ္တိကို ပြောပြတော်မူရန် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား မိန့်ဆိုထားတော်မူသည်။ တမန်တော်နူးဟ်(အလိုင်ဟစ္စလာမ်)၏ အမျိုးသားများ၏အကြောင်းကို လေ့လာကြည့်လျှင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား သွေဖည်ငြင်းဆန် မနာခံသူများ၊ မုသားစွပ်စွဲပြောဆိုသူများသည် အောင်မြင်မှုအစစ်အမှန်ကို မည်သည့်အခါကမျှ မရရှိခဲ့ကြောင်း၊ ၎င်းတို့၏ မောက်မာပလွှားဝါကြွားမှု၊ ထကြွမှုနှင့် ➤➤

فَعَلَى اللّٰهِ تَوَكَّلْتُ فَاَجْمِعُوْٓا اَمْرَكُمْ وَشُرَكَآءَكُمْ ثُمَّ لَا يَكُنْ اَمْرُكُمْ عَلَيْكُمْ غُمَّةً ثُمَّ اقْضُوْٓا اِلَيَّ وَلَا تُنْظِرُوْنِ ﴿٧١﴾

"အို-ငါ၏အမျိုးသားတို့၊ အကယ်၍ ငါ၏ ရပ်တည်ခြင်းသည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များဖြင့် ငါ၏ဆုံးမဩဝါဒပေးခြင်းသည်လည်းကောင်း၊ အသင်တို့အပေါ်၌ ဝန်လေးနေပါလျှင် ငါသည် အလ္လာဟ်အရှင်မြတ်အပေါ်၌သာ ယုံပုံလွှဲအပ်ပြီးဖြစ်ပေရာ အသင်တို့သည် (ငါ့အားချေမှုန်းရန်) မိမိတို့၏ အကြံအစည်များကို မိမိတို့၏ တွဲဖက်နိုင်းယှဉ်ကိုးကွယ်ရာများနှင့် ပူးပေါင်း၍ ပြဋ္ဌာန်းကြလေကုန်။ ထို့နောက် အသင်တို့၏ (ယင်း) အကြံအစည်များသည်လည်း အသင်တို့အပေါ်ဝယ် ဖုံးအုပ်လျက် မရှိပါစေနှင့်၊ ထို့နောက် အသင်တို့သည် ငါနှင့် ပတ်သက်၍ စီမံဆောင်ရွက် ကြလေကုန်။ ၎င်းပြင် အသင်တို့သည် ငါ့အား ရွှေ့ဆိုင်းခွင့်ပင် မပေးကြကုန်လင့်။"

---

➤➤ တောက်ပြောင်မှုများသည် ခေတ္တခဏ ယာယီမျှသာဖြစ်၍ နောက်ဆုံးတွင် ပျက်စီးခြင်းဖြင့် အဆုံးသတ်သွားလေ့ရှိကြောင်း ကောင်းစွာ သိနိုင်ပေသည်။

မက္ကာမြို့သားများသည် တမန်တော်နူးဟ်(အလိုင်ဟစ္စလာမ်)၏ အမျိုးသားများ၏ အတ္ထုပ္ပတ္တိမှ သင်ခန်းစာယူသင့်ပေသည်။ အကယ်၍ မက္ကာမြို့သားများသည်လည်း တမန်တော် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား သွေဖည်ဆန့်ကျင်လျှင်၊ မနာခံဘဲ နေကြလျှင် မိမိတို့ ကျူးလွန်လျက်ရှိသော 'ရှရစ်က်' ယှဉ်တွဲကိုးကွယ်မှုများကို မရပ်စဲကြလျှင် ၎င်းတို့၏ နောက်ဆုံးအဖြစ်သည်လည်း တမန်တော် နူးဟ်(အလိုင်ဟစ္စလာမ်)၏ အမျိုးသားများ၏ နောက်ဆုံးအဖြစ်ကဲ့သို့ပင် ဖြစ်သွားပေမည်။

တမန်တော်နူးဟ်(အလိုင်ဟစ္စလာမ်)၏ အမျိုးသားများအကြောင်း ပြောပြစေတော်မူခြင်းသည် တစ်နည်းအားဖြင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား စိတ်မငြိုငြင်စေလိုတော်မူသည့် သဘောလည်း ပါဝင်ပေသည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မက္ကာမြို့သားများ၏ သွေဖည်ဆန့်ကျင်မှု၊ မနာလိုမုန်းတီးမှု၊ နှောင့်ယှက်မှုများကြောင့် စိတ်ဆင်းရဲတော်မူရန် မလို၊ အဘယ်ကြောင့်ဆိုသော် ပွင့်လေသမျှသော နဗီတမန်တော်အပေါင်းတို့သည် ဤသို့သော အနှောင့်အယှက်များနှင့် နည်းများမဆို ရင်ဆိုင် တွေ့ကြုံခဲ့ကြရသည်သာ ဖြစ်ပေသည်။

သို့ရာတွင် နောက်ဆုံး၌ အမှန်တရားသည်သာလျှင် လွှမ်းမိုး၍ အမှန်တရားကို ဆန့်ကျင်သောရန်သူများသည် ပျက်စီးခြင်းမက ပျက်စီးသွားခဲ့ရကြသည်သာ ဖြစ်ပေသည်။

فَاِنْ تَوَلَّيْتُمْ فَمَا سَاَلْتُكُمْ مِّنْ اَجْرٍ ۭ اِنْ اَجْرِيَ اِلَّا عَلَى اللّٰهِ ۙ وَاُمِرْتُ اَنْ اَكُوْنَ مِنَ الْمُسْلِمِيْنَ ۝٧٢

၇၂။ သို့ရာတွင် အကယ်၍ အသင်တို့သည် မျက်နှာလွှဲ၍သွားခဲ့ပါမူ ငါသည်အသင်တို့ထံ (မိမိ၏ ဆုံးမသြဝါဒပေးခြင်းနှင့် စပ်လျဉ်း၍) တစ်စုံတစ်ရာ အခပေးရန် တောင်းဆိုခဲ့ဖူးသည်မဟုတ်ပေ။ ငါ့အား အစားပေးရန်တာဝန်ကား အလ္လာဟ်အရှင်မြတ်အပေါ်၌သာ ရှိပေသည်။ ၎င်းပြင် ငါသည် 'မွတ်စ်လင်မ်' (အမိန့်တော်ကို လိုက်နာသူ)တို့တွင် တဦးအပါအဝင် ဖြစ်ရန် အမိန့်ပေးတော်မူခြင်းကို ခံခဲ့ရလေသတည်း၊[၁]

فَكَذَّبُوْهُ فَنَجَّيْنٰهُ وَمَنْ مَّعَهٗ فِي الْفُلْكِ وَجَعَلْنٰهُمْ خَلٰۗىِٕفَ وَاَغْرَقْنَا الَّذِيْنَ كَذَّبُوْا بِاٰيٰتِنَا ۚ فَانْظُرْ كَيْفَ كَانَ

၇၃။ သို့ပါလျက် ယင်း(နဗီတမန်တော်နူးဟ်၏) အမျိုးတို့သည် ထို(နဗီတမန်တော်)နူးဟ်အား မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြကုန်၏။ ထို့နောက် ငါအရှင်မြတ်သည် ထို(နဗီတမန်တော်)နူးဟ်အားလည်းကောင်း၊ ထို(နဗီတမန်တော်)နူးဟ်နှင့်အတူ သင်္ဘောပေါ်တွင် (စီးနင်း)လိုက်ပါခဲ့ကြကုန်သောသူတို့အားလည်းကောင်း၊ (ရေဘေးမှ)ကယ်တော်မူခဲ့လေသည်။

---

(၁) ဤအာယတ်တော်၏ အလိုသဘောကား "အကယ်၍ အသင်တို့ သွေးဖည်ကျောခိုင်းသွားလျှင်လည်း ကိစ္စမရှိပါ၊ အဘယ်ကြောင့်ဆိုသော် ငါသည် အသင်တို့၏ အန္တရာယ်ကိုလည်း မကြောက်၊ အသင်တို့ထံမှ မျှော်လင့်ချက်လည်းမထား၊ ငါသည် မိမိအသက်နှင့် မိမိခန္ဓာကိုယ်၌ သက်ရောက်မည့် မည်သည့်အန္တရာယ်ကိုမျှလည်း မစိုးရိမ်ပါ။ ဥစ္စာပစ္စည်း ဆုံးရှုံးမည်ကိုလည်း မကြောက်ပါ။ ငါသည် ယခုကဲ့သို့ တရားဓမ္မဟောကြားရသည့်အတွက် အသင်တို့ထံမှ အခကြေးငွေ တပြားတကျပ်မျှလည်း တောင်းခံသည်မရှိ၊ အကယ်၍သာ ငါသည် အသင်တို့ထံမှ အခကြေးငွေ တစ်စုံတစ်ရာ တောင်းခံသည်ရှိသော် အသင်တို့ မကြိုက်နှစ်သက်ကြသည့်အခါ ငါ၏လစာ၊ အခကြေးငွေ ရပ်ဆိုင်းသွားမည်ကို စိုးရိမ်ရမည်။ သို့မဟုတ် ယုတ်စွအဆုံး အသင်တို့က 'ဤသို့ ငါတို့အား တရားဓမ္မ ဟောကြားနေခြင်းမှာ ငါတို့ထံမှ အခကြေးငွေ လိုလားသည့်အတွက် ဖြစ်သည်' ဟု စွပ်စွဲပြောဆိုကြပေမည်။ ယခုမူ ငါ့၌ စိုးရိမ်ရန်အကြောင်းလည်းမရှိ၊ အသင်တို့သည် ငါ့အား မည်သို့မျှ စွပ်စွဲပြောဆိုနိုင်ကြသည် မရှိ၊ အမှန်စင်စစ် ငါသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို နာခံသော မွတ်စ်လင်မ်တစ်ဦးသာ ဖြစ်သည်။ ထိုအရှင်မြတ်၏ အမိန့်တော်အရ ယခုကဲ့သို့ တရားဓမ္မ ဟောကြားနေရခြင်း ဖြစ်သည်။ ထိုအရှင်မြတ်၏အမိန့်တော်ကို နာခံရန်မှာ ငါ၏အဓိကတာဝန်ဖြစ်သည်၊ ငါသည် တာဝန်သိသိ၊ သစ္စာရှိရှိနှင့် ထိုအရှင်မြတ်၏ အမိန့်တော်များကို ဦးလည်မသုန် လိုက်နာလျက်ရှိပေရာ ထိုအရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် ငါ့အား ကုသိုလ်အကျိုးပေးတော်မူမည်သာ ဖြစ်သည်။ ငါရရှိအပ်သော ကုသိုလ်အကျိုးသည် အသင်တို့နှင့် မပတ်သက်ချေ။ အလ္လာဟ်အရှင်မြတ်နှင့်သာလျှင် ပတ်သက်ပေသည်" ဟူ၏။

عَاقِبَةُ الْمُنْذَرِينَ ﴿٧٣﴾

ငင်းပြင် ငါအရှင်မြတ်သည် ထို(နဗီ တမန်တော်နူးဟ်နှင့်အတူ လိုက်ပါခဲ့သော)သူတို့အား (ကမ္ဘာမြေပြင်ဝယ် ရေဘေးသင့်၍ သေကြေပျက်စီးသွားခဲ့ကြသောသူတို့၏) *အရိုက်အရာ ဆက်ခံသူများ ပြုလုပ်တော်မူခဲ့လေသည်။* [၁] ထို့ပြင် ငါအရှင်မြတ်၏ သက်သေလက္ခဏာတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြသော သူတို့အား ငါအရှင်မြတ်သည် နစ်မြုပ်စေတော်မူခဲ့လေသည်။ သို့ဖြစ်ပေရာ သတိပေးနှိုးဆော်ခြင်းခံကြရသောသူတို့၏ နောက်ဆုံးအကျိုးဆက်သည် မည်သို့မည်ပုံရှိခဲ့သည်ကို အသင်သည် ဆင်ခြင် သုံးသပ်ပါလေ။

ثُمَّ بَعَثْنَا مِنْ بَعْدِهِ رُسُلًا إِلَىٰ قَوْمِهِمْ فَجَاءُوهُمْ بِالْبَيِّنَاتِ فَمَا كَانُوا لِيُؤْمِنُوا بِمَا كَذَّبُوا بِهِ مِنْ قَبْلُ ۚ كَذَٰلِكَ نَطْبَعُ عَلَىٰ قُلُوبِ الْمُعْتَدِينَ ﴿٧٤﴾

၇၄။ ထို့နောက် ငါအရှင်မြတ်သည် ထို(နဗီတမန်တော်)နူးဟ် မရှိသည့်နောက်တွင် (အခြားသော) ရစူလ် တမန်တော်များကို ထိုရစူလ်တမန်တော်များ၏ အမျိုးသားများထံ စေလွှတ်တော်မူခဲ့လေသည်။ သို့ဖြစ်ပေရာ ထိုရစူလ်တမန်တော်များသည် ၎င်းတို့ထံ ထင်ရှားစွာသော သက်သေသာဓကများကို ယူဆောင်လာခဲ့ကြလေသည်။ သို့ရာတွင် (ယခုသော်) ထိုအမျိုးသားများသည် မိမိတို့ရှေးဦးမဆွက မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြသောကြောင့် ယုံကြည်ကြရန် မဖြစ်တော့ပေ။ ငါအရှင်မြတ်သည် စည်းကမ်းကျူးလွန်သောသူတို့၏ စိတ်နှလုံးပေါ်တွင် ဤအတိုင်းပင် တံဆိပ်ခတ်နှိပ်တော်မူလေ့ရှိပေသတည်း။ [၂]

---

(၁) တမန်တော် နူးဟ်(အလိုင်ဟစ္စလာမ်)သည် မိမိ၏အမျိုးသားများအား နှစ်ပရိစ္ဆေဒ အမြောက်အမြား တရားဓမ္မဟောကြားတော်မူခဲ့၏။ ကျိုးပြစ်နှစ်ရပ်လုံးကို ရှင်းပြတော်မူခဲ့၏။ သို့ရာတွင် (လူတစ်စုမှအပ) မည်သူ့၌မျှ အရာမထင်ခဲ့ပေ။ ထိုမျှမက တမန်တော်နူးဟ် (အလိုင်ဟစ္စလာမ်)၏ အမျိုးသားများသည် တမန်တော် နူးဟ် (အလိုင်ဟစ္စလာမ်)ကိုပင် ရန်ငြိုးဖွဲ့လာခဲ့ကြ၏။ စည်းကမ်းလွန်လာခဲ့ကြ၏။ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် အမိန့်တော်ကို သွေဖည်ငြင်းဆန် မနာခံသူတို့အား ရေဘေးသင့်စေပြီး ➤➤

ثُمَّ بَعَثْنَا مِنۢ بَعْدِهِم مُّوسَىٰ وَهَٰرُونَ إِلَىٰ فِرْعَوْنَ وَمَلَإِي۟هِۦ بِـَٔايَٰتِنَا فَٱسْتَكْبَرُوا۟ وَكَانُوا۟ قَوْمًا مُّجْرِمِينَ ۝٧٥

၇၅။ ထို့နောက် ငါအရှင်မြတ်သည် ထိုရစူလ်
တမန်တော်များ မရှိသည့်နောက်တွင် (နဗီတမန်တော်)
မူစာ [၁] အားလည်းကောင်း၊ (နဗီတမန်တော်) ဟာရွန်
အားလည်းကောင်း၊ ငါ အရှင်မြတ်၏ သက်သေ
လက္ခဏာတော်များနှင့်တကွ ဖစ်ရ်အောင်န်နှင့် ၎င်း၏
အကြီးအကဲများထံသို့ စေလွှတ်တော်မူခဲ့လေသည်။
သို့သော် ၎င်းတို့သည် မောက်မာပလွှားခဲ့ကြလေသည်။
စင်စစ်သော်ကား ၎င်းတို့သည် ပြစ်မှုကျူးလွန်လေ့
ရှိသော အမျိုးသားများ ဖြစ်ခဲ့ကြကုန်သတည်း။

---

➤➤ ကွပ်မျက်ဖျက်ဆီးတော်မူ၍ တမန်တော်နူးဟ်(အလိုင်ဟစ္စလာမ်)နှင့်အတူ သင်္ဘောပေါ်တွင် စီးနင်းလိုက်ပါခဲ့ကြသော လူတစ်စုကိုမူ ကယ်တင်ခဲ့လေသည်။၎င်းနောက် အလ္လာဟ်အရှင်မြတ်သည် ရေဘေးသင့်၍ သေကြေပျက်စီးသွားသောသူတို့၏ နေရာများတွင် တမန်တော်နူးဟ်(အလိုင်ဟစ္စလာမ်)နှင့် သင်္ဘောပေါ်တွင် စီးနင်းလိုက်ပါခဲ့ကြသော လူတစ်စုတို့အား နေရာချထားပေးတော်မူခဲ့လေသည်။

(၂) တမန်တော်နူးဟ်(အလိုင်ဟစ္စလာမ်) မရှိသည့်နောက်တွင် အလ္လာဟ်အရှင်မြတ်သည် တမန်တော်ဟူးဒ်(အလိုင်ဟစ္စလာမ်)၊ တမန်တော်ဆွာလေ့ဟ်(အလိုင်ဟစ္စလာမ်)၊ တမန်တော်လူးတွ်(အလိုင်ဟစ္စလာမ်)၊ တမန်တော်အစ်ဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)၊ တမန်တော်ရှုအိုက်ဗ်(အလိုင်ဟစ္စလာမ်) စသည့် တမန်တော်များအား ၎င်းတို့၏ အမျိုးသားများထံသို့ ထင်ရှားသောသက်သေ၊ သာဓက၊ အထောက်အထားများနှင့်တကွ စေလွှတ်တော်မူခဲ့လေသည်။ ထိုထိုသော အမျိုးသားများသည် မိမိတို့ထံသို့ တမန်တော်များမပွင့်လာမီအလျင် ကုဖ်ရ်၊ ရှရစ်က်စသော အမိုက်မှောင်များတွင် နစ်မွန်း၍ နေခဲ့ကြ၏။ တမန်တော်များပွင့်လာပြီး အမှန်တရားများကို ရှင်းလင်းဟောကြားကြသည့်အခါတွင် အမှားကိုစွန့်၍ အမှန်ကိုလက်ခံကြရန်သာရှိပေသည်။ သို့ရာတွင် ယင်းအမျိုးသားများသည် ယခင်က သွေဖည်ငြင်းဆန် လက်မခံခဲ့ကြသောအရာကို တမန်တော်များ ပွင့်လာ၍ အမှန်တရားများကို ရှင်းလင်းဟောပြောပြီးသည့် နောက်တွင်လည်း သွေဖည်မြဲ သွေဖည်၊ ငြင်းဆန်မြဲ ငြင်းဆန်နေကြပေသည်။

တမန်တော်နူးဟ် (အလိုင်ဟစ္စလာမ်)၏ အမျိုးသားများက တမန်တော်နူးဟ်(အလိုင်ဟစ္စလာမ်)၏ မှန်ကန်သော တရားဒေသနာတော်များကို ငြင်းဆန်လက်မခံခဲ့ကြသကဲ့သို့ ယင်းအမျိုးသားများကလည်း ငြင်းဆန်ကြခြင်းပင်။ ပထမအကြိမ် နှုတ်မှ "မဟုတ်" ဟု ထွက်ဆိုမိသွားလျှင် နောက်နောင် ဘယ်သောအခါ၌မျှ "ဟုတ်သည်" ဟူ၍ ပြောဆိုတော့မည်မဟုတ်ပေ။ "ကျားကျားမီးယပ်" ဟူသော စကားပုံမှာ ဤသို့သော သူများအတွက် သုံးနှုန်း ထားသော စကားပုံပင် ဖြစ်ချေသည်။

**မှတ်ချက်။** တမန်တော်ဟူးဒ်၊ တမန်တော် ဆွာလေ့ဟ်၊ တမန်တော် လူးတွ်၊ တမန်တော် ရှုအိုက်ဗ် (အလိုင်ဟိမွတ်စ္စလာမ်)တို့၏ အကြောင်းကို ကုရ်အာန်ကျမ်းတော်မြတ် (၇း၆၅-၉၉) တွင် တွေ့ရှိရပေသည်။

(၁) တမန်တော်မူစာ (အလိုင်ဟစ္စလာမ်) ၏အကြောင်း ကုရ်အာန်ကျမ်းတော်မြတ် (၂း၄၇-၉၆) တွင်လည်းကောင်း၊ (၇း၁၀၀-၁၅၇)တွင် လည်းကောင်း၊ (၂၀း၉-၈၉)တွင် လည်းကောင်း ပါရှိသည်။

فَلَمَّا جَآءَهُمُ الْحَقُّ مِنْ عِنْدِنَا قَالُوْٓا اِنَّ هٰذَا لَسِحْرٌ مُّبِيْنٌ ۝٧٦

၇၆။ သို့ဖြစ်ပေရာ ၎င်းတို့ထံ ငါအရှင်မြတ်အထံတော်မှ အမှန်တရား (တန်ခိုးပြာဋိဟာ)သည် ရောက်လာသောအခါ ၎င်းတို့က "ဤသည် ဧကန်မလွဲ စုန်းပယောဂ အတတ်ပင်ဖြစ်သည်" ဟူ၍ ပြောဆိုခဲ့ကြလေသတည်း။

قَالَ مُوْسٰٓى اَتَقُوْلُوْنَ لِلْحَقِّ لَمَّا جَآءَكُمْ ؕ اَسِحْرٌ هٰذَا ؕ وَلَا يُفْلِحُ السّٰحِرُوْنَ ۝٧٧

၇၇။ (ထိုအခါ နဗီတမန်တော်)မူစာက (ဤသို့) ပြောဆိုဖြေကြားခဲ့လေသည်။ (အချင်းတို့) "အသင်တို့သည်အမှန်တရားနှင့်စပ်လျဉ်း၍ ထိုအမှန်တရားသည် အသင်တို့ထံရောက်လာခဲ့ပြီးမှ ('ဤသည် စုန်းပယောဂ ဖြစ်သည်' ဟု) ပြောဆိုကြလေသလော၊ ဤသည် စုန်း ပယောဂအတတ် ဖြစ်ပါသလော၊ အမှန်စင်စစ် သော်ကား စုန်း ကဝေ တို့သည် (မည်သည့်အခါမျှ) အောင်မြင်ကြသည် မရှိချေတကား။"

قَالُوْٓا اَجِئْتَنَا لِتَلْفِتَنَا عَمَّا وَجَدْنَا عَلَيْهِ اٰبَآءَنَا وَتَكُوْنَ لَكُمَا الْكِبْرِيَآءُ فِى الْاَرْضِ ؕ وَمَا نَحْنُ لَكُمَا بِمُؤْمِنِيْنَ ۝٧٨

၇၈။ ၎င်းတို့က (နဗီတမန်တော်မူစာအား ဤသို့) ပြောဆိုကြပြန်လေသည်။ (အို-မူစာ) "အသင်သည် ကျွန်ုပ်တို့၏ အဘ၊ ဘိုး၊ ဘေးများ၏ လမ်းစဉ်မှ ကျွန်ုပ်တို့အားလွှဲဖယ်ရန်လည်းကောင်း၊ တိုင်းပြည်တွင် ခေါင်းဆောင်မှုသည် အသင်တို့နှစ်ဦး၌သာ ရှိအံ့သောငှာလည်းကောင်း၊ အသင် ကျွန်ုပ်တို့ထံ ရောက်ရှိခဲ့လေသလော။ စင်စစ်သော်ကား ကျွန်ုပ်တို့သည် အသင်တို့နှစ်ဦးအား (မည်သည့်အခါ၌မျှ) ယုံစားကြမည့်သူများ မဟုတ်ချေ"

وَقَالَ فِرْعَوْنُ ائْتُوْنِىْ بِكُلِّ سٰحِرٍ عَلِيْمٍ ۝٧٩

၇၉။ ထို့နောက် ဖစ်ရ်အောင်နက (မိမိမှူးကြီးမတ်ရာတို့အား) "အသင်တို့သည် တတ်မြောက်ကျွမ်းကျင်သောစုန်းကဝေခပ်သိမ်းတို့ကို ငါတို့ထံ ခေါ်သွင်းခဲ့ကြလေကုန်"ဟုအမိန့်ထုတ်ပြန်ခဲ့လေသတည်း။

فَلَمَّا جَآءَ السَّحَرَةُ قَالَ لَهُمْ مُّوسَىٰ أَلْقُوا مَا أَنتُم مُّلْقُونَ ﴿٨٠﴾

၈၀။ တစ်ဖန် စုန်းကဝေတို့လာရောက်ကြသောအခါ (နဗီတမန်တော်)မူစာက ၎င်းတို့အား "အသင်တို့သည် မိမိတို့ ပစ်ချကြမည့်အရာများကို ပစ်ချကြလေကုန်" ဟု ပြောဆိုခဲ့လေသည်။

فَلَمَّا أَلْقَوْا قَالَ مُوسَىٰ مَا جِئْتُم بِهِ السِّحْرُ إِنَّ اللَّهَ سَيُبْطِلُهُ إِنَّ اللَّهَ لَا يُصْلِحُ عَمَلَ الْمُفْسِدِينَ ﴿٨١﴾

၈၁။ ထို့နောက် ၎င်းတို့သည် (မိမိတို့ ပစ်ချလိုသောကြိုးများကို မြေဝယ်)ပစ်ချခဲ့ကြသောအခါ (နဗီတမန်တော်)မူစာက (၎င်းတို့အား ဤသို့)ပြောဆိုခဲ့ကြလေသည်။ "အသင်တို့ ယူဆောင်ခဲ့ကြသောအရာများကား စုန်းပယောဂအတတ်ပင် ဖြစ်ပေသည်။

ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ယခုမကြာမီပင် ဤ *စုန်း ပယောဂများကို အချည်းနှီးဖြစ်စေတော်မူမည်။* [၁] စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် (တန်ခိုး ပြာဋိဟာနှင့် ပြိုင်ဆိုင်၍) ပျက်စီးရာပျက်စီးကြောင်း ပြုလုပ်သောသူတို့၏ လုပ်ငန်းကို အဆင်ပြေအောင် ပြုလုပ်ပေးသနားတော်မူသည် မဟုတ်ပေ။"

---

(၁) ကုရ်အာန်ကျမ်းတော်မြတ်၏ (၁၀:၇၇)တွင် "စုန်းကဝေများသည် အောင်မြင်ကြသည် မရှိချေ" ဟူ၍ လာရှိ၏။ ကုရ်အာန်ကျမ်းမြတ် (၁၀:၈၁)တွင် "ဧကန်မုချ အလ္လာဟ်အရှင်မြတ်သည် ပျက်စီးရာ ပျက်စီးကြောင်း ပြုလုပ်သူတို့၏ အပြုအမူကို အဆင်ပြေအောင် ပြုလုပ်ပေးတော်မူသည် မရှိချေ" ဟူ၍ လာရှိ၏။

ဤအာယတ်တော်နှစ်ပါးကို သာမန် အပေါ်ယံကြည့်ကာ 'တစ်ခါတစ်ရံ စုန်းကဝေများနှင့် ပျက်စီးရာပျက်စီးကြောင်း ပြုလုပ်သူများသည် အောင်မြင်ကြသည်ကို တွေ့မြင်ရသည်' ဟူ၍ သို့လောသို့လော တွေးတောရန်ဖြစ်လာနိုင်သည်၊ လင်းပြဦးအံ့။

ဤအာယတ်တော်များတွင် လာရှိသော 'စုန်းကဝေ' ဟူသည် "နဗီဖြစ်ပါသည်" ဟု လိမ်ပြောသောစုန်းကဝေကို ဆိုလိုသည်။ ပျက်စီးရာပျက်စီးကြောင်း ပြုလုပ်သူ' ဟူသည် တန်ခိုးပြာဋိဟာနှင့် ပြိုင်ဆိုင်သူကို ဆိုလိုသည်။ နဗီဟူ၍ လိမ်လည်ပြောဆိုသော စုန်းကဝေများနှင့် တန်ခိုးပြာဋိဟာကို ပြိုင်ဆိုင်သူများသည် ဘယ်သောအခါ၌မျှ အောင်မြင်ကြသည် မရှိချေ၊ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် လူလိမ်၏လက်ဖြင့် တန်ခိုးပြာဋိဟာ ပြတော်မမူချေ၊ ထို့အတူ နဗီတမန်တော်မြတ်၏ လက်တော်တွင် တန်ခိုးပြာဋိဟာ ပြတော်မမူဘဲလည်း နေတော်မမူချေ။ (ကြည့်-ကုရ်အာန် ၂၀:၆၉)

وَيُحِقُّ اللّٰهُ الْحَقَّ بِكَلِمٰتِهٖ وَلَوْ كَرِهَ الْمُجْرِمُوْنَ ﴿٨٢﴾

၈၂။ စင်စစ်သော်ကား ပြစ်မှုကျူးလွန်သူများသည် (မည်မျှပင်)မကျေနပ်မနှစ်သက်ကြလင့်ကစားအလ္လာဟ် အရှင်မြတ်သည် အမှန်ကို မိမိပြဋ္ဌာန်းချက်များနှင့် အညီ အမှန်ပင်ဖြစ်စေတော် မူပေသည်တကား။[၁]

فَمَآ اٰمَنَ لِمُوْسٰٓى اِلَّا ذُرِّيَّةٌ مِّنْ قَوْمِهٖ عَلٰى خَوْفٍ مِّنْ فِرْعَوْنَ وَمَلَا۟ئِهِمْ اَنْ يَّفْتِنَهُمْ ۭ وَاِنَّ فِرْعَوْنَ لَعَالٍ فِى الْاَرْضِ ۚ وَاِنَّهٗ لَمِنَ الْمُسْرِفِيْنَ ﴿٨٣﴾

၈၃။ ထို့နောက် နဗီတမန်တော်မူစာအား ထို (နဗီတမန်တော်မူစာ)၏ အမျိုးသားတို့ အနက်မှ ဖစ်ရ်အောင်န်နှင့် မိမိတို့၏အနက်မှ အကြီးအကဲတို့ သည် မိမိတို့အား အန္တရာယ်ပြုကြမည်ဟု စိုးရိမ်ကြီးစွာ ရှိနေကြသဖြင့် လူတစ်စုသာလျှင် ယုံစား (ယုံကြည် ထောက်ခံ) ခဲ့ကြလေသည်။ [၂] စင်စစ်မှာမူကား ဖစ်ရ်အောင်န်သည် (ထိုစဉ်အခါက) တိုင်းပြည်တွင် လွှမ်းမိုးကြီးစိုးနေသူ ဖြစ်ခဲ့သည့်ပြင်၊ ဧကန်စင်စစ် ၎င်းသည် ကျူးကျော်လွန်ကဲသူတစ်ဦးလည်း ဖြစ်ခဲ့ ပေသတည်း။

---

(၁) ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်ကျမ်းတော်မြတ် (၇:၁၀၃-၁၂၆)တွင် အကျယ်တဝင့် မိန့်ဆို ထားတော်မူသည်။ ပြန်လည်ရှုပါကုန်။

(၂) အစ္စရာအီလီ မျိုးနွယ်ဝင်များသည် တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)နှင့် အတူတကွ ဖစ်ရ်အောင်န်၏ အမျိုးသားများဖြစ်သော (Kipty) ကစ်ပ်တီတို့လက်တွင် နှိပ်စက်ညှဉ်းပန်းမှု အမျိုးမျိုးကို အကြီးအကျယ် ခံစားနေခဲ့ကြရ၏။ အစ္စရာအီလီ မျိုးနွယ်ဝင်များသည် အတိတ်ခေတ်၏ အနာဂတ်ဟောကြားချက်အရ ဖစ်ရ်အောင်န်၏ နှိပ်စက်ညှဉ်းပန်းမှုများကို တွန်းလှန်၍ ဖစ်ရ်အောင်န်၏ တန်ခိုးအာဏာကို ပျက်ပြားစေမည့် အစ္စရာအီလီမျိုးနွယ်ဝင် နဗီတမန်တော်တစ်ပါးပွင့်မည်ကို စောင့်မျှော်နေခဲ့ကြ၏။ တမန်တော်မူစာ (အလိုင်ဟစ္စလာမ်) သည်လည်း ၎င်းတို့ စောင့်မျှော်နေခဲ့ကြသည့် အတိုင်းပင် ပွင့်လာတော်မူခဲ့လေသည်။ ထို့အတွက်ကြောင့် အစ္စရာအီလီ မျိုးနွယ်ဝင်အားလုံးတို့သည် တမန်တော်မူစာ(အလိုင်ဟစ္စလာမ်) ပွင့်လာတော်မူခြင်းကို သဘာဝ အလျောက် ကြီးမားလှသောကျေးဇူးတော်ဟု ယူဆနေခဲ့ကြ၏။ အစ္စရာအီလီ မျိုးနွယ်ဝင် အားလုံးတို့သည် တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)အား မှန်ကန်သည်ဟု စိတ်တွင်းမှ ယုံကြည်ခဲ့၏။ ကြည်ညိုလေးစားခဲ့ကြ၏။ သို့ရာတွင် များစွာသောသူများသည် ဖစ်ရ်အောင်န်နှင့်တကွ သူ၏အကြီးအကဲများက မိမိတို့အား အန္တရာယ်ပြုမည်ကို စိုးရိမ်နေကြရသည့်အတွက် အစပထမတွင် အတည့်အလင်း တရားဝင် 'အီမာန်' မယုံကြည်ခဲ့ကြပေ။ "တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)၏ အမှန်တရား လွှမ်းမိုးလာသည့်အခါ အီမာန်ယုံကြည်ကြမည်" ဟူ၍ စောင့်ဆိုင်းနေခဲ့ကြ၏။ သို့ရာတွင် အစ္စရာအီလီမျိုးနွယ်ဝင်များအနက် လူငယ်တစ်စုသည် ဖစ်ရ်အောင်န်၏ ဘေးရန်များကို စိုးရိမ်ကြရပါလျက် အားခဲကာ အတည့်အလင်း 'အီမာန်' ယုံကြည်လာခဲ့ကြပေသည်။ ➢➢

وَقَالَ مُوسٰى يٰقَوۡمِ اِنۡ كُنۡتُمۡ اٰمَنۡتُمۡ بِاللّٰهِ فَعَلَيۡهِ تَوَكَّلُوۡۤا اِنۡ كُنۡتُمۡ مُّسۡلِمِيۡنَ ﴿۸۴﴾

၈၄။ ထို့ပြင် (နဗီတမန်တော်)မူစာသည် (မိမိ အမျိုးသားတို့အား ဤသို့)ပြောကြားခဲ့လေသည်။ "အို-ငါ၏အမျိုးသားတို့ အကယ်၍ အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား သက်ဝင်ယုံကြည်ကြပြီး အမှန်ပင် "မွတ်စ်လင်မ်" အမိန့်တော်ကို နာခံသူများ ဖြစ်ကြပါလျှင် အသင်တို့သည် (မိမိတို့၏အရေးကိစ္စ အဝဝတွင်) ထိုအရှင်မြတ်အပေါ်၌သာလျှင် ယုံကြည် အားထားကြလေကုန်"။

فَقَالُوۡا عَلَى اللّٰهِ تَوَكَّلۡنَا‌ ۚ رَبَّنَا لَا تَجۡعَلۡنَا فِتۡنَةً لِّـلۡقَوۡمِ الظّٰلِمِيۡنَ ﴿۸۵﴾

၈၅။ ထိုအခါ နဗီတမန်တော်မူစာ၏ အမျိုးသားတို့က "အို-နဗီတမန်တော်(မူစာ၊) ကျွန်တော်မျိုးတို့သည် အလ္လာဟ် အရှင်မြတ် အပေါ်၌သာလျှင် ယုံကြည် အားထားကြပါပြီ" ဟုပြောဆိုပြန်ကြားခဲ့ပြီး (အလ္လာဟ် အရှင်မြတ်အထံတော်၌) "အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ် သည် ကျွန်တော်မျိုးတို့အား နှိပ်စက်ကလူ ပြုမူ ကြကုန်သောသူတို့၏ အနှိပ်စက် ခံကြရသူများအဖြစ် ပြုတော်မမူပါနှင့်"။ (ဟူ၍လည်းကောင်း၊)

وَنَجِّنَا بِرَحۡمَتِكَ مِنَ الۡقَوۡمِ الۡكٰفِرِيۡنَ ﴿۸۶﴾

၈၆။ ထိုမှတစ်ပါး အရှင်မြတ်သည် မိမိ၏ ကရုဏာတော်နှင့် ကျွန်တော်မျိုးတို့အား ကာဖိရ် မယုံမကြည် သွေဖည် ငြင်းပယ်သော သူတို့(၏ အန္တရာယ်များ)မှ ကယ်တင်တော်မူပါ" (ဟူ၍ လည်းကောင်း၊) ပန်ကြားခဲ့ကြလေသတည်း။

➤➤ ဖစ်ရ်အောင်န်၏ အမျိုးသားများအနက် လူတစ်စုသည်လည်း တမန်တော်မူစာ (အလိုင်ဟစ္စလာမ်)အား ယုံကြည်လာခဲ့ကြပေသည်။ နောက်ဆုံးတွင် တမန်တော် မူစာ (အလိုင်ဟစ္စလာမ်)၏ အရှိန်အဝါ ကြီးထွား၍ အမှန်တရား ကျော်ကြားလာသောအခါ ယောကျ်ား ခြောက်သိန်းခန့် ပါဝင်သည့် အစ္စရာအီလီ မျိုးနွယ်ဝင်အားလုံးတို့ သည် တမန်တော်မူစာ (အလိုင်ဟစ္စလာမ်)အား ယုံကြည်လာခဲ့ကြပေသည်။

ဤအာယတ်တော်တွင် အစ္စရာအီလီမျိုးနွယ်ဝင်များ၏ အစပထမ အခြေအနေကို ထုတ်ဖော် မိန့်ဆိုထားတော်မူခြင်း ဖြစ်သည်။

وَأَوْحَيْنَآ إِلَىٰ مُوسَىٰ وَأَخِيهِ أَن تَبَوَّءَا لِقَوْمِكُمَا بِمِصْرَ بُيُوتًا وَٱجْعَلُوا۟ بُيُوتَكُمْ قِبْلَةً وَأَقِيمُوا۟ ٱلصَّلَوٰةَ ۗ وَبَشِّرِ ٱلْمُؤْمِنِينَ ﴿٨٧﴾

၈၇။ ၎င်းပြင် ငါအရှင်မြတ်သည် (နဗီတမန်တော်) မူစာ၏ထံသို့လည်းကောင်း၊ ထို(နဗီတမန်တော်) မူစာ၏နောင်တော် (နဗီတမန်တော်) ဟာရွန်ထံသို့လည်းကောင်း၊ (ဤကဲ့သို့) အမိန့်တော်ချမှတ်တော်မူခဲ့လေသည်။ "အသင်တို့နှစ်ဦးသည် မိမိတို့၏အမျိုးသားများ(ဖြစ်ကုန်သော အစ္စရာအီလီမျိုးနွယ်တို့)အဖို့ အီဂျစ်ပြည်တွင်ပင် နေအိမ်များကို သတ်မှတ်ကြလေကုန်။ ၎င်းပြင် အသင်တို့သည် မိမိတို့၏နေအိမ်များကို *'ဆွလာတ်' ဝတ်ပြုရာဌာနများ ('မတ်စ်ဂျစ်ဒ်' ဗလီဝတ်ကျောင်းတော်များ) ပြုလုပ်ကြလေကုန်။* [၁] ထို့ပြင်အသင်တို့သည် *'ဆွလာတ်ဝတ်ပြုမှုကို ဆောက်တည်ကြလေကုန်။* [၂] ထိုမှတစ်ပါး (အို-နဗီတမန်တော်)မူစာအသင်သည် မုအ်မင်န် သက်ဝင်ယုံကြည်သော သူတို့အား (၎င်းတို့ ခံစားရလျက်ရှိနေသော ဘေးအန္တရာယ်များမှ မကြာမီအတွင်း လွတ်မြောက်ကြတော့မည် ဖြစ်ကြောင်း) ဝမ်းမြောက်ဖွယ် သတင်းကောင်း ပြောကြားပါလေ။

---

(၁) (ဝဂျ်အလူ ဗုယူတကွန်မ်)ဟူသော အာယတ်တော်ကို မုဖတ်စ်စစ်ရ်များက အနက်အဓိပ္ပါယ်အမျိုးမျိုး ဖွင့်ဆိုကြသည်။ 'အသင်တို့သည် မိမိတို့၏အိမ်များကို "ကစ်ဗ်လဟ်" ပြုလုပ်ကြကုန်' ဟူသည် အစ္စရာအီလီမျိုးနွယ်ဝင်တို့ စိုးရိမ်ကြောင့်ကြနေခဲ့ကြရစဉ်က ၎င်းတို့သည် မိမိတို့၏အိမ်များတွင်ပင် ဆွလာတ်ဝတ်ပြုရန် အမိန့်ပေးတော်မူခြင်းကို ဆိုလိုသည်။ ဤသည် သာဝကကြီး အစ်ဗ်နုအဗ္ဗားစ်(ရသွေယလ္လာဟုအန္ဟု)၏အဖွင့်တည်း။
(အစ်ဗ်နုဂျရီးရ်။ အစောင်-၁၁၊ စာမျက်နှာ-၁၀၆)

(၂) အစ္စရာအီလီ မျိုးနွယ်ဝင်များသည် ဝတ်တက်ရန်အလို့ငှာ ကျေးရွာများတွင်လည်းကောင်း၊ လမ်းများပေါ်တွင်လည်းကောင်း၊ 'မတ်စ်ဂျဒ်' ဝတ်ပြုရာကျောင်းများကို တည်ဆောက်ထားခဲ့ကြ၏။ ဖစ်ရ်အောင်န်သည် ယင်းသည့်ကျောင်းများကို ဖြိုဖျက်ပစ်ရန် အမိန့်ပေး၍ အစ္စရာအီလီ မျိုးနွယ်ဝင်များကိုလည်း ဝတ်တက်ခြင်းမှ ပိတ်ပင် တားမြစ်လိုက်လေသည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာ(အလိုင်ဟစ္စလာမ်) နှင့် တမန်တော်ဟာရွန်(အလိုင်ဟစ္စလာမ်)တို့ထံသို့ 'ဝဟီ' ပို့တော်မူ၍ အစ္စရာအီလီ မျိုးနွယ်ဝင်များအား ၎င်းတို့ ဝတ်ပြုသည်ကို ကာဖိရ်တို့ မသိရှိစေရန်အတွက် မိမိတို့ အိမ်များတွင် သီးသန့်နေရာများ သတ်မှတ်၍ လျှို့ဝှက်စွာ ဝတ်ပြုရန် အမိန့်ပေးတော်မူလေသည်။ ဤအာယတ်တော်တွင် ဤသည့်အကြောင်းကိုပင် မိန့်ဆိုထားတော်မူသည်။
(မူသွိဗ်ဟုလ်ကုရ်အာန်၊ စ- ၂၀၇။)

**၈၈။** ထို့ပြင် (နဗီတမန်တော်)မူစာသည် (ဤသို့) လျှောက်ထားပန်ကြားခဲ့လေသည်။ အို-ကျွန်တော်မျိုးတို့၏အရှင် ဧကန်စင်စစ် အရှင်မြတ်သည် ဖစ်ရ်အောင်န်နှင့်၎င်း၏မှူးမတ်တို့ကို ဤပစ္စက္ခ လောကီဘဝတွင် (တစ်ခဏမျှခံစားအပ်သော) *ခမ်းနားသိုက်မြိုက်မှုကိုလည်းကောင်း၊* [၁] ပစ္စည်းဉစ္စာများကိုလည်းကောင်း၊ ပေးသနားတော်မူခဲ့ပါသည်။ အို-ကျွန်တော်မျိုးတို့၏အရှင်၊ ထို(ကဲ့သို့ ပေးသနားတော်မူခြင်း)ကြောင့် ၎င်းတို့သည် (သူတစ်ပါးအား) *အရှင်မြတ်၏လမ်းတော်မှ ချွတ်ချော်တိမ်းပါးစေကြကုန်၏။* [၂]

وَقَالَ مُوسَىٰ رَبَّنَآ إِنَّكَ
ءَاتَيْتَ فِرْعَوْنَ وَمَلَأَهُۥ زِينَةً
وَأَمْوَٰلًا فِى ٱلْحَيَوٰةِ ٱلدُّنْيَا
رَبَّنَا لِيُضِلُّوا۟ عَن سَبِيلِكَ
رَبَّنَا ٱطْمِسْ عَلَىٰٓ أَمْوَٰلِهِمْ
وَٱشْدُدْ عَلَىٰ قُلُوبِهِمْ فَلَا
يُؤْمِنُوا۟ حَتَّىٰ يَرَوُا۟ ٱلْعَذَابَ
ٱلْأَلِيمَ ﴿٨٨﴾

အို-ကျွန်တော်မျိုးတို့၏အရှင်၊ အရှင်မြတ်သည် ၎င်းတို့၏ပစ္စည်းဉစ္စာများကို ဖျက်ဆီးတော်မူပါ၊ ထို့ပြင် အရှင်မြတ်သည် ၎င်းတို့၏စိတ်နှလုံးများကိုလည်း မာကျောစေတော်မူပါ၊ သို့ဖြစ်လျှင် ၎င်းတို့သည် နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်ကို မမြင်သမျှကာလပတ်လုံး သက်ဝင်ယုံကြည်ကြမည် မဟုတ်ပါ။ **(တနည်း)** သို့ဖြစ်ပေရာ ၎င်းတို့သည် နာကျင်ဖွယ်ဖြစ်သောပြစ်ဒဏ်ကို မမြင်ကြသမျှ ကာလပတ်လုံး သက်ဝင်ယုံကြည်ကြခြင်း မရှိနိုင်ကြရန် အရှင်မြတ်သည် ၎င်းတို့၏စိတ်နှလုံးများကို ခက်ထန်မာကျောစေတော်မူပါ။

---

(၁) အလ္လာဟ် အရှင်မြတ်သည် ဖစ်ရ်အောင်န်နှင့် ၎င်း၏ အံကြီးအကဲများအား လှပမှု၊ ကျက်သရေရှိမှု၊ တင့်တည်မှု၊ ခံ့ညားထယ်ဝါမှု၊ ရှုစဖွယ် အသုံးအဆောင်များ ဥပမာ- ရုပ်ဆင်းသဏ္ဌာန် လှပခြင်း၊ ကောင်းမွန်လှပသော အစီးအနင်း၊ လှပသော ဝတ်စားတန်ဆာများ၊ ကျက်သရေဆောင် အိမ်ထောင် ပရိဘောဂများ သာမက ရွှေငွေဉစ္စာ ဘဏ္ဍာ အမြောက်အများနှင့် ရွှေတွင်း ငွေတွင်း များကိုပါ ချီးမြှင့် ပေးသနားတော်မူထားပေသည်။

قَالَ قَدْ أُجِيبَت دَّعْوَتُكُمَا فَاسْتَقِيمَا وَلَا تَتَّبِعَآنِّ سَبِيلَ الَّذِينَ لَا يَعْلَمُونَ ﴿٨٩﴾

၈၉။ (ထိုအခါ) ထိုအရှင်မြတ်သည် (ဤသို့) မိန့်ကြားတော်မူခဲ့လေသည်။ (အို-နဗီတမန်တော်မူစာနှင့် နဗီတမန်တော်ဟာရွန်) "အသင်တို့နှစ်ဦး၏ ဆုတောင်းပန်ကြားချက်သည် သဘောတူခြင်းကို ခံခဲ့ရလေပြီ၊ သို့ဖြစ်ပေရာ အသင်တို့နှစ်ဦးသည် တည်ကြည်ကြံ့ခိုင်စွာရှိကြလေကုန်၊ ထို့ပြင် အသင်တို့နှစ်ဦးသည် မသိနားမလည်သော သူတို့၏လမ်းကို မလိုက်ကြကုန်လင့်။ [၁]

---

(၂) "လိယုဒ္ဒလ္လူ" ၌ပါရှိသော (لِ) လာမ်သည် အကြောင်းပြလည်း ဖြစ်နိုင်သည်။ အကျိုးပြလည်း ဖြစ်နိုင်သည်။

(က) အကြောင်းပြဟုယူဆက ဤအာယတ်တော်၏ အလိုသဘောအရ 'အလ္လာဟ်အရှင်မြတ်သည် ဤသူမိုက်တို့အား အဆိုပါကျက်သရေဆောင် ပစ္စည်းများနှင့် ဥစ္စာများကို ပေးထားတော်မူခြင်း၏ အဓိကရည်ရွယ်ချက်မှာ ယင်းသူမိုက်တို့သည် ဤသည့်ပစ္စည်းများဖြင့် မောက်မာ၊ ပလွှား၊ ဝါကြွားကာ မိမိတို့ ကိုယ်တိုင်လည်း လမ်းမှား၍ သူတစ်ပါးတို့အားလည်း လမ်းမှားစေကြရန်' ဖြစ်မည်။

အလ္လာဟ်အရှင်မြတ်သည် အကောင်းနှင့်အဆိုး နှစ်ရပ်စလုံးကို ဖန်ဆင်းတော်မူသောအရှင် ဖြစ်တော်မူပေရာ ထိုအရှင်မြတ် ပြုလုပ်ဖန်ဆင်းတော်မူသမျှသည် အကျိုးမဲ့ အကြောင်းမဲ့ အလျင်းမဖြစ်နိုင်ပေ။ အဆိုးကို ဖန်ဆင်းတော်မူရာ၌ပင် အကျိုး မုချရှိရပေမည်။ ထိုသို့သော အကျိုးအတွက်ပင်လျှင် ဤသို့သော သူမိုက်တို့အား ထိုထိုသောပစ္စည်းများကို ပေးသနားထားတော်မူခြင်းဖြစ်သည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၃း၁၇၇၊ ၁၇း၂၀)တွင်လည်း မိန့်ဆိုထားတော်မူသည်။

(ခ) အကျိုးပြဟု ယူဆက ဤအာယတ်တော်၏ အလိုသဘောအရ 'အလ္လာဟ်အရှင်မြတ်သည် ယင်းသည့် ပစ္စည်းများကို ထိုသူမိုက်တို့အား ပေးသနားတော်မူခြင်းမှာ ကောင်းမှုကောင်းရာများတွင် သုံးစွဲရန်အတွက်သာ ဖြစ်သည်။ ယင်းသို့ ပေးသနားတော်မူခြင်းကို အကြောင်းပြု၍ ကျေးဇူးတော်ရှင် အလ္လာဟ်အရှင်မြတ်အား သိရှိ၍ ကျေးဇူးတော်ကို သိတတ်သောကျွန်များ ဖြစ်ရှိလာကြရန် ဖြစ်သည်။ သို့ရာတွင် ယင်း သူမိုက်တို့သည် မိမိတို့၏ မိုက်မဲမှုကြောင့် အလ္လာဟ်အရှင်မြတ် ပေးသနားတော်မူသော ဥစ္စာပစ္စည်းများကို ကောင်းသည့် နေရာများတွင် အသုံးမပြုကြဘဲ မိမိတို့ကိုယ်တိုင် လမ်းမှား၍ သူတစ်ပါးတို့အား လမ်းမှားစေရေးတွင် အသုံးပြုကြလေသည်' ဟူ၍ဖြစ်မည်။

(၁) 'အသင်တို့နှစ်ဦးသည် မသိနားမလည်သောသူတို့၏ လမ်းစဉ်ကို မလိုက်နာကြကုန်လင့်' (ဝါ) အသင်တို့သည် မိမိတို့တာဝန်များကို တည်ကြည်ကြံ့ခိုင်စွာ ဆောင်ရွက်နေကြဟူသည်။ 'အကယ်၍ ဆုတောင်းပြည့်ခြင်း၏ နိမိတ်လက္ခဏာများသည် အနည်းငယ် ကြန့်ကြာနေလျှင် (ငါ၏လမ်းစဉ်ကို) မသိနားမလည်သော သူများကဲ့သို့ အလျင်စလို မပြုလုပ်ကြကုန်လင့်၊ သတ်မှတ်ထားသော အချိန်တွင် ငါအရှင်မြတ် ကတိပြုထားတော်မူသည့် အတိုင်းပင် မုချဖြစ်မည်။ (ကြန့်ကြာလျှင် အကြောင်းရှိ၍ ဖြစ်သည်) မစိုးရိမ်ကြကုန်လင့်' ဟု ဆိုလိုခြင်း ဖြစ်သည်။

وَجٰوَزْنَا بِبَنِىْٓ اِسْرَآءِيْلَ الْبَحْرَ فَاَتْبَعَهُمْ فِرْعَوْنُ وَجُنُوْدُهٗ بَغْيًا وَّعَدْوًا حَتّٰٓى اِذَآ اَدْرَكَهُ الْغَرَقُ قَالَ اٰمَنْتُ اَنَّهٗ لَآ اِلٰهَ اِلَّا الَّذِىْٓ اٰمَنَتْ بِهٖ بَنُوْٓا اِسْرَآءِيْلَ وَاَنَا مِنَ الْمُسْلِمِيْنَ ﴿٩٠﴾

၉၀။ ထို့ပြင် ငါအရှင်မြတ်သည် အစ္စရာအီလီမျိုးနွယ်ဝင်တို့အား (ပင်လယ်နီ) တစ်ဖက်ကမ်းမှ တစ်ဖက်ကမ်းသို့ ရောက်စေတော်မူခဲ့လေသည်။ ထို့နောက် ယင်းအစ္စရာအီလီ မျိုးနွယ်ဝင်တို့၏နောက်သို့ 'ဖစ်ရ်အောင်န်' နှင့် ထိုဖစ်ရ်အောင်န် ဗိုလ်ခြေဗိုလ်ပါတို့သည် မတရားပြုမူရန်လည်းကောင်း၊ နိုင်ထက်စီးနင်းပြုလုပ်ရန်လည်းကောင်း၊ လိုက်ခဲ့ကြကုန်၏။

နောက်ဆုံးတွင် ထိုဖစ်ရ်အောင်သည် နစ်မြုပ်အံ့ဆဲဆဲ ဖြစ်ခဲ့သောအခါတွင် "ကျွန်တော်မျိုးသည်လည်း အစ္စရာအီလီမျိုးနွယ်ဝင်တို့ သက်ဝင် ယုံကြည်ကြကုန်သော အရှင်မြတ်မှတစ်ပါး ခဝပ်ကိုးကွယ်ရာ အရှင်မြတ်ဟူ၍ အလျင်းမရှိကြောင်း သက်ဝင်ယုံကြည်ပါပြီ။ ထို့ပြင် ကျွန်တော်မျိုးသည် 'မွတ်စ်လင်မ်' အမိန့်တော်ကို လိုက်နာသောသူတို့တွင် တစ်ဦးအပါအဝင်ဖြစ်ပါပြီ"ဟု ပြောဆိုခဲ့လေသတည်း။

اٰۤلْـٰٔنَ وَقَدْ عَصَيْتَ قَبْلُ وَكُنْتَ مِنَ الْمُفْسِدِيْنَ ﴿٩١﴾

၉၁။ (ထိုအခါ အလ္လာဟ်အရှင်မြတ်သည် ဤသို့မိန့်ကြားတော်မူခဲ့၏။) ယခုမှပင် (အီမာန်သက်ဝင်) ယုံကြည်လေသလော၊ အမှန်စင်စစ်သော်ကား အသင်သည် ယခု (မနစ်မြုပ်မီ)အလျင်အထိ မထီမဲ့မြင်ပြုခဲ့ ရုံမျှမက အသင်သည် ပျက်စီးရာပျက်စီးကြောင်းပြုလုပ်သူတို့တွင်လည်း တစ်ဦးအပါအဝင် ဖြစ်ခဲ့ချေသတည်း။ [၁]

(၁) ဖစ်ရ်အောင်န်သည် မိမိ၏တစ်သက်တာလုံး အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို သွေဖည်ခဲ့၏။ ဆိုးချင်တိုင်း ဆိုးခဲ့၏။ အစ္စရာအီလီ မျိုးနွယ်ဝင်တို့အား နှိပ်စက်ချင်တိုင်း နှိပ်စက်ခဲ့၏။ တိုင်းတစ်ပါးသို့ ထွက်ခွာသွားကြရရှာသော အစ္စရာအီလီမျိုးနွယ်ဝင်တို့ကို ကျူးကျော်စော်ကားရန်နှင့် နိုင်ထက်စီးနင်းလုပ်ရန် တပ်ချီ၍ပင် နောက်မှ လိုက်ခဲ့သေး၏။ နောက်ဆုံး ဖစ်ရ်အောင်န်သည် ရေနစ်၍ သေခါနီးဆဲဆဲ အချိန်တွင် 'အာလမ်မေ့ဗရ်ဇခ်'၏ အဖြစ်အပျက်များနှင့် ပြစ်ဒဏ်ခတ်သည့် ကောင်းကင်တမန်များကို မျက်ဝါးထင်ထင် တွေ့မြင်သောအခါတွင် 'ကျွန်ုပ်ယုံကြည်ပါပြီ' ဟုဆိုလေသည်။ 'အလာကောင်းသော်လည်း အခါကား ➤➤

فَالْيَوْمَ نُنَجِّيكَ بِبَدَنِكَ لِتَكُونَ لِمَنْ خَلْفَكَ آيَةً ۚ وَإِنَّ كَثِيرًا مِّنَ النَّاسِ عَنْ آيَاتِنَا لَغَافِلُونَ ﴿٩٢﴾

၉၂။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် အသင့်အား အသင်၏ခန္ဓာကိုယ်ရုပ်ကလာပ်နှင့်တကွ အသင်သည် မိမိနောင်လာနောက်သားတို့အဖို့ အထိမ်းအမှတ်၊ လက္ခဏာ၊ *သံဝေဂရဖွယ်တစ်ရုပ် ဖြစ်အံ့သောငှာ ဆယ်တင်ထားတော်မူမည်။* [၁] သို့ရာတွင် များစွာသော သူတို့သည် ငါအရှင်မြတ်၏ သက်သေ၊ လက္ခဏာတော်များကို လျစ်လျူရှု မေ့ပျောက်၍သွားသော သူများသာ ဖြစ်ကြပေသတည်း။

---

➤➤ နှောင်းချေပြီ' ဟူသော ဆိုရိုးစကားကဲ့သို့ ထိုအချိန် ထိုအခါ၏ အီမာန်ယုံကြည်ခြင်းကား အကျိုး မပေးတော့ပေ။ (ကြည့်-ကုရ်အာန် ၄၀း၈၄။)

(၁) အလ္လာဟ်အရှင်မြတ်သည် ဖစ်ရ်အောင်န်၏ ရုပ်ကလာပ်ကို ဆယ်တင်ထားတော်မူခြင်းမှာ ထိုအရှင်မြတ်၏ အမိန့်တော်များကို သွေဖည်၊ ငြင်းဆန်၊ ပုန်ကန်၊ သောင်းကျန်းခဲ့သော သူပုန်ဖစ်ရ်အောင်န်သည်လည်း သူပုန်တို့၏ သွားရာလမ်းသို့ပင်လိုက်၍ မရှုမလှ သေကြေပျက်စီးသွားရပြီ ဖြစ်ကြောင်းကို လူအများ အထင်အရှား သိရှိစေရန်နှင့် ဖစ်ရ်အောင်န်၏ အသေဆိုးနှင့် သေခြင်းကို ကြည့်ရှု၍ လူအများ သတိသံဝေဂ ရရှိစေရန်ပင် ဖြစ်သည်။

ဖစ်ရ်အောင်န်၏ကြီးကျယ်မှုနှင့် တန်ခိုးအာဏာများကို အထင်ကြီးခဲ့သော အချို့အစ္စရာအီလီ မျိုးနွယ်ဝင်များသည် ဖစ်ရ်အောင်န် ရေနစ်သေသည်ကိုပင် ဒွိဟ၊သံသယဖြစ်ခဲ့ကြသေးသည်။ သို့အတွက်ကြောင့် လည်း အလ္လာဟ်အရှင်မြတ်သည် ဖစ်ရ်အောင်န်၏ ရုပ်ကလာပ်ကို လူအများ တွေ့မြင်နိုင်ရန်အတွက် အနည်းငယ်၊ စိုးစဉ်းမျှ မပျက်စီးစေဘဲ မူရင်းရုပ်ဆင်းသဏ္ဌာန်အတိုင်း ထိန်းသိမ်းထားတော်မူခြင်း ဖြစ်သည်။

အသက်နှုတ်သည့်အချိန်၊ပြစ်ဒဏ်ကိုမြင်တွေ့ရသည့်အချိန်ကျကာမှ အီမာန်ယုံကြည်ခြင်းကို

'အီမာန် ဃရ်ဃရဟ်' (သေအံ့ဆဲဆဲယုံကြည်ခြင်း)

'အီမာန် ဗအ်စ်' (ပြစ်ဒဏ်မြင်၍ ယုံကြည်ခြင်း)

'အီမာန် ထဲအ်စ်'(မျှော်လင့်ချက်ကင်း၍ ယုံကြည်ခြင်း)ဟု ခေါ်သည်။

ဤသို့သော ယုံကြည်ခြင်းမျိုးသည် 'အဟ်လေ့စွန္နတ်ဂျမာအတ် အသင်းဝင်များ၏ ယူဆချက်အရ အကျိုးမရှိပေ။ ရှိုက်ခ် အဗ်ဒွလ်ဟာဗ် ရှအ်ရာနီသခင်က "အလ်ယဝါကီတ်ဝါလ်ဂျဝါဟစ်ရ်" ကျမ်းတွင် 'ဖုတူဟာတ်ကျမ်း' မှ ကောက်နုတ်ချက်ကို ထုတ်ဖော်ရေးသားဖော်ပြထားရာ ယင်းကောက်နုတ်ချက်တွင်၊ ဖစ်ရ်အောင်န် ၏ အီမာန်ယုံကြည်ခြင်းသည် အကျိုးမရှိကြောင်း အတည့်အလင်း ပါရှိပေသည်။

ရှအ်ရာနီသခင်က မိမိကျမ်း၏နိဒါန်းတွင် အမှတ်တရထုတ်ဖော်၊ ရေးသားထားသည်မှာ 'ဖုတူဟာတ် ကျမ်း' ၏အချို့စာမူများတွင် အချို့'မွလ်ဟစ်ဒ်' အယူဖောက်ပြန်သော၊ အယူတိမ်းသော၊ လမ်းမှားသောသူများ၊ ဇင်ဒီက်နှင့် '(Atheist)' ဘုရားတရားကင်းမဲ့သော သူများက မဟုတ်မမှန်သည့်များစွာသော စာပိုဒ်များကို ဖြည့်စွက်ထည့်သွင်း ရေးထားကြသည်။ ကျွန်ုပ်တို့ထံတွင် ရှိသော 'ဖုတူဟာတ်ကျမ်း' စာမူသည် ➤➤

وَلَقَدْ بَوَّأْنَا بَنِيٓ إِسْرَآءِيلَ مُبَوَّأَ صِدْقٍ وَرَزَقْنَٰهُم مِّنَ ٱلطَّيِّبَٰتِ فَمَا ٱخْتَلَفُوا۟ حَتَّىٰ جَآءَهُمُ ٱلْعِلْمُ إِنَّ رَبَّكَ يَقْضِى بَيْنَهُمْ يَوْمَ ٱلْقِيَٰمَةِ

၉၃။ ထိုမှတစ်ပါး မုချဧကန် ငါအရှင်မြတ်သည်ပင် အစ္စရာအီလီမျိုးနွယ်ဝင်တို့အား အလွန်ကောင်းမွန်သင့်မြတ်သောနေရာတွင် နေရာချထားပေးတော်မူခဲ့လေသည်။ ထို့ပြင် ငါအရှင်မြတ်သည်ပင် ၎င်းတို့အား ကောင်းမွန်သန့်စင်သော စားနပ်ရိက္ခာများကို ချီးမြှင့် ပေးသနားတော်မူခဲ့လေသည်။ တစ်ဖန် ၎င်းတို့သည် မိမိတို့ထံ အသိပညာရောက်ရှိလာပြီးမှသာလျှင် ကွဲလွဲခဲ့ကြပေသည်။

➤➤ အခိုင်မာဆုံးနှင့် စိတ်အချရဆုံး စာမူဖြစ်သည်။ ဤစာမူတွင် ယင်းအယူဖောက်ပြန်သော၊ ဘုရားတရားမရှိသော သူယုတ်တို့ ဖြည့်စွက်ရေးသားထားကြသည့် စာပိုဒ်များအလျှင်းမရှိပေ။ (၎င်းတို့ဖြည့်စွက်၊ ရေးသားထည့်သွင်းထားသော စာပိုဒ်များတွင် ဖစ်ရ်အောင်န်၏ အီမာန်ယုံကြည်ခြင်းသည် မှန်ကန်သည်ဟူ၍လည်း ပါရှိ၏) ဤကား အမှားတည်း။

ဤသို့ပင် ထာနဝီသခင်ကလည်း မိမိကျမ်းတွင်ဖွင့်ဆိုရေသားထားသည်။

(ကြည့်-ထာနဝီ၊အစောင် ၅၊ စ- ၃၀။)

**ဖစ်ရ်အောင်န်၏ အလောင်း။**

ရှေးဟောင်းပစ္စည်း သုတေသီများနှင့် ကမ္ဗည်းကျောက်စာပါရဂူများသည် အီဂျစ်ပြည်၏ ရှေးဟောင်းမြို့တစ်မြို့ဖြစ်သော (Thebes) 'သဲဘဲစ်' တွင် ရေနစ်သေဆုံးခဲ့သော ဖစ်ရ်အောင်န်ဘုရင်တစ်ပါး၏ (Mummy) အလောင်းတစ်ခုကို တွေ့ရှိထားကြသည်။ ယခုအခါ ယင်းအလောင်းကို (Cairo) ကိုင်ရိုမြို့ရှိ (Museum) ပြတိုက်တွင် သိမ်းဆည်းထားသည်။ ရာဇဝင်ပါရဂူများနှင့် ကမ္ဗည်းကျောက်စာပါရဂူများက အဆိုပါအလောင်းသည် (Ramess II) ၏ အလောင်းပင်ဖြစ်သည်ဟု ယူဆကြသည်။ (Ramesas II) သည် ကုရ်အာန်ကျမ်းတော်မြတ်တွင်ပါရှိသည့် ရေနစ်သေဆုံးသော ဖစ်ရ်အောင်န်လော၊ သို့တည်းမဟုတ် အခြားဖစ်ရ်အောင်န်လော-ကျွန်ုပ်တို့ အတိအကျ မဆိုနိုင်ပေ။ မာဂျဒီ၊ အစောင်-၃၊ စ-၄၅၃၊ အအ-၁၃၅။

ဗုခါရီကျမ်းတွင် လာရှိသည့်အတိုင်း ဖစ်ရ်အောင်န်နှင့် ၎င်း၏နောက်လိုက်များ သေကြေပျက်စီးသွားခဲ့ကြသောနေ့ရက်မှာ မုဟရ်ရမ်လ (၁၀)ရက်နေ့ပင် ဖြစ်သည်။ နဗီ တမန်တော်မြတ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)သည် မဒီနာမြို့သို့ ရောက်ရှိလာတော်မူသည့်အခါ ယဟူဒီများ ဥပုသ်စောင့်နေကြသည်ကို တွေ့မြင်တော်မူရာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က ယင်းယဟူဒီများအား "အသင်တို့ ဥပုသ်စောင့်နေကြသော ဤနေ့ကား အဘယ်သို့နည်း" ဟု မေးမြန်းတော်မူရာ ယဟူဒီများက "ဖစ်ရ်အောင်န်အား တမန်တော်မူစာ(အလိုင်ဟစ္စလာမ်) အောင်နိုင်ခဲ့သောနေ့မှာ ဤနေ့ပင်ဖြစ်ပါသည်" ဟုလျှောက်ထားကြလေသည်။ ထိုအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က မိမိ၏ သာဝကကြီးများအား "အသင်တို့သည် ထိုယဟူဒီများထက် ပိုမို၍ တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)အား လေးစားအပ်သည်ဖြစ်ရာ အသင်တို့သည် ထိုနေ့တွင် ဥပုသ်စောင့်ကြကုန်" ဟု အမိန့်ပေးတော်မူခဲ့လေသည်။

(အစ်ဗ်နုကဆီရ်၊ အစောင် ၂၊ စ- ၄၃၀။)

فِيمَا كَانُوا فِيهِ يَخْتَلِفُونَ ﴿٩٣﴾

ဧကန်မလွဲ အသင်၏ အရှင်မြတ်သည် ၎င်းတို့၏စပ်ကြားတွင် 'ကိယာမတ်' ရှင်ပြန်ထမည့် နေ့တွင် ၎င်းတို့ကွဲလွဲလျက် ရှိကြကုန်သောအရေး ကိစ္စများနှင့် စပ်လျဉ်း၍ စီရင်ဆုံးဖြတ်တော်မူပေမည်။

فَإِنْ كُنْتَ فِي شَكٍّ مِّمَّا أَنْزَلْنَا إِلَيْكَ فَسْئَلِ الَّذِينَ يَقْرَءُونَ الْكِتٰبَ مِنْ قَبْلِكَ لَقَدْ جَآءَكَ الْحَقُّ مِنْ رَّبِّكَ فَلَا تَكُونَنَّ مِنَ الْمُمْتَرِينَ ﴿٩٤﴾

၉၄။ တဖန် အကယ်၍ အသင်တို့သည် မိမိထံ *ငါအရှင်မြတ် ချပေးသနားတော်မူသော အကြောင်းအချက်များ* [၁] နှင့် စပ်လျဉ်း၍ *ဒွိဟသံသယ ဖြစ်ခဲ့ပါမူ* [၂] အသင်သည် မိမိအလျင် ကျမ်းဂန်များကို ဖတ်လျက်ရှိသောသူတို့အား စုံစမ်းမေးမြန်းပါလေ။ စင်စစ်ဧကန် အသင့်ထံ အသင်၏အရှင်မြတ်အထံတော်မှ အမှန်တရားသည် ရောက်ရှိလာခဲ့လေပြီ။ သို့ဖြစ်ပေရာ အသင်သည် ဒွိဟ သံသယ ရှိသူတို့ အနက်မှ အလျင်းမဖြစ်ပါလေနှင့်။

---

(၁) "အသင့်ထံ ငါအရှင်မြတ် ချပေးတော်မူသောအရာ" ဟူသည် အဘယ်နည်း၊ အထက်တွင် အစ္စရာအီလီ မျိုးနွယ်ဝင်များ၊ ဖစ်ရ်အောင်နှင့်၎င်း၏ နောက်လိုက်များ အတ္ထုပ္ပတ္တိပါရှိခဲ့၏။ ထိုအတွက်ကြောင့် "အသင့်ထံ ငါအရှင်မြတ် ချပေးတော်မူသောအရာ" သည် "ထိုအတ္ထုပ္ပတ္တိများ၊ ထိုအကြောင်းအရာများကိုပင် ရည်ညွှန်းသည်" ဟု ဆိုနိုင်ပေသည်။ မုဖတ်စ်စစ်ရ်များကလည်း ဤအတိုင်းပင် ဖွင့်ဆိုရေးသားခဲ့ကြပေသည်။

သို့တည်းမဟုတ် "အသင့်ထံ ငါအရှင်မြတ် ချပေးတော်မူခဲ့သောအရာ" ၏အနက်ကို ဤထက်တိုးချဲ့၍ "ကုရ်အာန်ကျမ်းလာ အကြောင်းအရာ အားလုံးကို ဆိုလိုသည်" ဟူ၍ ယူဆကလည်း ယူဆနိုင်ပေသည်။

(ကြည့်-မာဂျိဒီ၊ အစောင် ၃၊ စ- ၄၅၄၊ အအ- ၁၄၀။)

ဤအာယတ်တော်သည် အပေါ်ယံအားဖြင့်လည်း တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) အား ရည်ညွှန်းမိန့်ဆိုထားသည်ဟု ထင်ရသော်လည်း အမှန်မှာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား မိန့်ကြား၍ သူတစ်ပါးတို့အား ကြားသိစေရန်အတွက်ပင်ဖြစ်သည်။

ကာဖိရ်၊ မုရှ်ရစ်ကတို့သည် "အွန်မ်မီ" ဖြစ်တော်မူသော တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏နှုတ်တော်မှ အံ့မဆုံးသော အာယတ်တော်များ၊ တရားဒေသနာတော်များကို ကြားသိကြရသောအခါ ရင်သပ်ရှုမော အံ့သြကြသော်လည်း မလိုမုန်းတီးမှု၊ ဖွတ်တရွတ်နိုင်မှု၊ ဘက်လိုက်မှုများကြောင့် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ချီးမြှင့်ခြင်းခံရတော်မူသည့် ကုရ်အာန်ကျမ်းတော်မြတ်လာ အာယတ်တော်များ နှင့် စပ်လျဉ်း၍ ဒွိဟသံသယ ဖြစ်ကြ၏။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မိမိ ချီးမြှင့်ခြင်းခံရသော အာယတ်တော်များဘက်သို့ မိမိကိုယ်တော်တိုင် ဖိတ်မန္တက ပြုတော်မူသဖြင့် ယင်းအာယတ် တော်များကို ကြားနာရသောသူများ၏ စိတ်နှလုံးများတွင် မယိမ်းမယိုင်သော ကျောက်တိုင်ပမာ ➢➢

➤➤ တည်ကြည်သည့် ယုံကြည်မှုကို ဖြစ်ပွားစေလျှင်၊ ဤသို့သော အာယတ်တော်များနှင့် စပ်လျဉ်း၍ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အသို့လျှင် ဒွိဟသံသယ ဖြစ်တော်မူနိုင်အံ့နည်း။ အမှန်စင်စစ် ယင်းအာယတ်တော်များနှင့်စပ်လျဉ်း၍ နှလုံးသား မဖြူစင်၊ မကြည်လင်သော ကာဖိရ်၊ မုရှ်ရစ်က် တို့သာ ဒွိဟသံသယ ဖြစ်ကြပေသည်။ ယင်းသို့ ဒွိဟသံသယဖြစ်သော ကာဖိရ်၊ မုရှ်ရစ်က်တို့ကိုလည်း ထုတ်ဖော်ကြေငြာတော်မူခဲ့လေသည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းတော်မြတ် (၁၀း၁၀၄)တွင် အတည့် အလင်း မိန့်ဆိုထားတော်မူသည်။

ဤအာယတ်တော်တွင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)မှတစ်ဆင့် ကုရ်အာန်ကျမ်းတော်မြတ်၏ အဆုံးအမခံဖြစ်သူတိုင်းအား သတိပေး နှိုးဆော်ထားတော်မူသည်မှာ 'ကုဖ်ရ်' သွေဖည်မှုနှင့် 'တာကဲဇီဗ်' မဟုတ်မမှန်ဟူသော ငြင်းပယ်မှု၏ရောဂါသည် ဒွိဟသံသယမှပင် စတင်ဖြစ်ပေါ်၏။ အကယ်၍ အသင်တို့သည် ကုရ်အာန်ကျမ်းတော်မြတ်တွင်လာရှိသော အတ္ထုပ္ပတ္တိများနှင့် စပ်လျဉ်း၍ ဒွိဟသံသယ ဖြစ်ရှိလျှင် အဆောတလျင် ကုစားကြရမည်၊ အဘယ်ကြောင့်ဆိုသော် ၎င်းတို့တွင် အချို့ မှန်ကန်သူများ၊ မျှတသူများ၊ သမာသမတ်ရှိသူများလည်း ပါဝင်နေကြပေသည်။ ထိုပုဂ္ဂိုလ်များသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ဟောကြားတော်မူသည့် တရားဒေသနာတော်များနှင့် စပ်လျဉ်း၍ မှန်ကန်ကြောင်း ဝန်ခံ ပြောဆိုကြပေသည်။ အမှန်စင်စစ် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ဟောကြားတော်မူသည့် တရားဒေသနာတော်များသည် အမှန်ချည်းသာ ဖြစ်ပေသည်။ ထိုတရား ဒေသနာတော်များသည် အလ္လာဟ်အရှင်မြတ်ထံတော်မှ ထုတ်ပြန်ချမှတ်တော်မူသော တရားတော်ဒေသနာတော်များသာဖြစ်ပေရာ ယင်းတရားဒေသနာတော်များနှင့် အတ္ထုပ္ပတ္တိများတွင် အသို့လျှင် ဒွိဟသံသယဖြစ်ရန် အကြောင်းရှိနိုင်အံ့နည်း။ အကယ်၍ ယုတ္တိကင်းမဲ့သော၊ အချည်းနှီးဖြစ်သော ဒွိဟသံသယများကို အချိန်မီ မကုစားပါက ထိုဒွိဟသံသယများသည် ရက်အနည်းငယ်အတွင်း တိုးပွားလာကာ ငြင်းခုံမှု၊ ခိုက်ရန်ဖြစ်ပွားမှု အဆင့်သို့ ရောက်ရှိသွားပေမည်။ ထိုမှတစ်ဆင့်တိုး၍ 'မဟုတ်မမှန်' ဟု လုံးဝ ငြင်းပယ်သည့် အဖြစ်သို့ ရောက်ရှိသွားပေမည်။ ထို့နောက်တွင်ရှိသော အဆင့်အတန်း တစ်ခုသို့ ရောက်သွားသည့်အခါ စိတ်နှလုံးသားပေါ်တွင် တံဆိပ်ခတ်နှိပ်ခြင်း ခံရပေတော့သည်။ အဘယ်ကြောင့်ဆိုသော် 'မဟုတ်မမှန်' ဟု ဖွတ်မိုတ် ပြောဆိုလေ့ရှိသူများတွင် အမှန်တရားကို လက်ခံ၊ နာယူနိုင်သည့် အရည်အချင်းသည် ပျောက်ကွယ်သွားပေသည်။ ဤသည့်အဆင့်သို့ ရောက်ရှိနေသူတစ်ဦးသည် တန်ခိုးပြဋ္ဌိဟာ၊ သက်သေလက္ခဏာ အလုံးစုံတို့ကို တွေ့မြင်ရသော်ငြားလည်း အီမာန်ယူ ယုံကြည်မည်မဟုတ်ပေ။ ထိုသို့သောသူများသည် ငရဲမီးဘေးကို မျက်ဝါးထင်ထင် တွေ့ရသည့်အခါမှပင် ယုံကြည်တော့ပေမည်။ သို့ရာတွင် ထိုအချိန်ကျမှ ယုံကြည်ခြင်းကား အကျိုးပေးမည် မဟုတ်တော့ပေ။

(၂) ဤအာယတ်တော်တွင် ဖအင်န်ကွန်း တဖီးရှတ်က္ကင်မ် "အကယ်၍ အသင်သည် ဒွိဟသံသယ ဖြစ်ခဲ့လျှင်" ဟူ၍လာရှိ၏။ ဤဝါကျတွင်ပါရှိသော ဧကဝုစ်ကိန်း "အသင်" ဟူသောနာမ်စားသည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ရည်ညွှန်းသည်မဟုတ်၊ လူသားကာဖိရ်အား ရည်ညွှန်းခြင်းဖြစ်သည်။

(ကြည့်-မအာလင်မ်၊ ကုရ်တုဗီ။)

အပေါ်ယံအားဖြင့် ဤအာယတ်တော်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ရည်ညွှန်းသည်ဟု ထင်ရ၏။ သို့ရာတွင် အမှန်၌ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား မိန့်ကြား၍ သူတစ်ပါးတို့အား ကြားသိစေတော်မူရန် အဓိကဖြစ်သည်။

အထက်ပါ အကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းတော်လာ အသုံးအနှုန်းကို ကြိုတင် ➤➤

وَلَا تَكُونَنَّ مِنَ الَّذِينَ كَذَّبُوا بِآيَاتِ اللَّهِ فَتَكُونَ مِنَ الْخَاسِرِينَ ﴿٩٥﴾

၉၅။ ထိုမှတစ်ပါး အသင်သည် အလ္လာဟ်အရှင်မြတ်၏သက်သေလက္ခဏာများကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်သောသူတို့၏အနက်မှလည်း အလျင်းမဖြစ်ပါ လေနှင့်၊ သို့ဖြစ်ခဲ့ပါလျှင် အသင်သည်လည်း ဆုံးရှုံး သူတို့တွင် အပါအဝင် ဖြစ်သွားပေမည်။

إِنَّ الَّذِينَ حَقَّتْ عَلَيْهِمْ كَلِمَتُ رَبِّكَ لَا يُؤْمِنُونَ ﴿٩٦﴾

၉၆။ အမှန်စင်စစ်အကြင်သူတို့ကား ၎င်းတို့အပေါ်၌ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ အမိန့်တော်သည် အတည်ဖြစ်ခဲ့လေပြီ၊ ထိုသူတို့သည်ကား သက်ဝင်ယုံကြည်ကြမည် မဟုတ်ပေ။

وَلَوْ جَاءَتْهُمْ كُلُّ آيَةٍ حَتَّىٰ يَرَوُا الْعَذَابَ الْأَلِيمَ ﴿٩٧﴾

၉၇။ အကယ်၍ ၎င်းတို့ထံ သက်သေလက္ခဏာ အလုံးစုံ ရောက်လာခဲ့ကြသော်လည်း ၎င်းတို့သည် ပြင်းပြနာကျယ်ဖွယ်ဖြစ်သောပြစ်ဒဏ်ကို (မျက်ဝါးထင်ထင်) မတွေ့မမြင်ကြရသည့် ကာလပတ်လုံး (သက်ဝင်ယုံကြည်ကြမည် မဟုတ်ပေတကား။)

فَلَوْلَا كَانَتْ قَرْيَةٌ آمَنَتْ فَنَفَعَهَا إِيمَانُهَا إِلَّا قَوْمَ يُونُسَ لَمَّا آمَنُوا كَشَفْنَا عَنْهُمْ

၉၈။ တဖန် အကြင်ကဲ့သို့သော ရွာတစ်ရွာမျှပင် အဘယ့်ကြောင့် မရှိခဲ့ပါသနည်း။ ထိုရွာ(သူ ရွာသားတို့)သည် အချိန်မီ အီမာန်သက်ဝင်ယုံကြည်ခဲ့ကြသဖြင့် ၎င်းတို့၏ အီမာန် သက်ဝင်ယုံကြည်မှုသည် ၎င်းတို့အား အကျိုးကျေးဇူးဖြစ်ထွန်းစေခဲ့လေသည်။

---

➤➤ သိထားအပ်ပေသည်။ ကုရ်အာန်ကျမ်းတော်မြတ်တွင် ယေဘုယျအားဖြင့် ဓမ္မဝိဋ္ဌာန် သုံးနှုန်းထားတော်မူသည်။ တစ်ခါ တစ်ရံတွင် ရည်ညွှန်းခံ ပုဂ္ဂိုလ်သည် တစ်ဦးတည်းပင် ဖြစ်လင့်ကစား ဓမ္မဝိဋ္ဌာန်ကိုပင် သုံးနှုန်းထားတော်မူသည်။ ထို့ပြင်တဝ ကုရ်အာန်ကျမ်းတော်မြတ်တွင် လာရှိသော ဧကဝုစ်ကိန်းတိုင်းသည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား ရည်ညွှန်းသည်ဟူ၍ တစ်ထစ်ချမယူအပ်ပေ။ အချို့အာယတ်တော်များတွင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏အမည်နာမဖြင့်ဖော်မိန့်ကြားထားတော်မူသော် လည်းအလိုသဘောမှာ သူတပါးတို့အား ရည်ညွှန်းမိန့်ကြားတော်မူခြင်း ဖြစ်သည်။ ဥပမာ– ကုရ်အာန်ကျမ်းမြတ် (၆၅း၁) တွင် ဤသည့်အသုံးအနှုန်းကို တွေ့ရှိရပေသည်။

عَذَابَ الْخِزْيِ فِي الْحَيٰوةِ الدُّنْيَا وَمَتَّعْنٰهُمْ اِلٰى حِيْنٍ ﴿٩٨﴾

သို့ဖြင့် (နဗီတမန်တော်ယူနွတ်စ်၏) အမျိုးသားတို့ကား (အချိန်မီ အီမာန်သက်ဝင်ယုံကြည်ခဲ့ကြသည့်အတွက်) အီမာန်အကျိုးခံစားခဲ့ကြရလေသည်။ ထို(နဗီတမန်တော် ယူနွတ်စ်၏) အမျိုးသားတို့သည် အီမာန် သက်ဝင်ယုံကြည်ခဲ့ကြသောအခါ ငါအရှင်မြတ်သည် ကျိုးယုတ်ရှက်ရဖြစ်စေမည့် ပြစ်ဒဏ်ကို ပစ္စက္ခ လောကီဘဝတွင် ၎င်းတို့မှ ကင်းဝေးစေတော်မူခဲ့လေသည်။ ထိုမှတစ်ပါး ငါ အရှင်မြတ်သည် ၎င်းတို့အား (သတ်မှတ်ပြဋ္ဌာန်းအပ်သော) အချိန်ကာလတိုင်အောင် ကောင်းစားတော်မူခဲ့လေသတည်း။

وَلَوْ شَآءَ رَبُّكَ لَاٰمَنَ مَنْ فِي الْاَرْضِ كُلُّهُمْ جَمِيْعًا ۗ اَفَاَنْتَ تُكْرِهُ النَّاسَ حَتّٰى يَكُوْنُوْا مُؤْمِنِيْنَ ﴿٩٩﴾

၉၉။ စင်စစ်သော်ကား အကယ်၍ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် အလိုရှိတော်မူခဲ့ပါလျှင် ကမ္ဘာမြေဝယ် ရှိရှိသမျှသော သူခပ်သိမ်းတို့သည် တစ်ပြိုင်နက် 'အီမာန်' သက်ဝင်ယုံကြမည်သာ ဖြစ်ကြကုန်၏။ သို့ဖြစ်ပေရာ အသင်သည် လူတို့အား မုအ်မင်န်သက်ဝင်ယုံကြည်သူများဖြစ်လာကြရန် အတင်းအကျပ် ပြုလုပ်နိုင်ပါသလော။

وَمَا كَانَ لِنَفْسٍ اَنْ تُؤْمِنَ اِلَّا بِاِذْنِ اللّٰهِ ۗ وَيَجْعَلُ الرِّجْسَ عَلَى الَّذِيْنَ لَا يَعْقِلُوْنَ ﴿١٠٠﴾

၁၀၀။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်၏ အလိုတော်မရှိလျှင် မည်သူတစ်ဦးတစ်ယောက်မျှပင် အီမာန်သက်ဝင်ယုံကြည်နိုင်သည်မရှိချေ။ စင်စစ်မှာမူကား ထိုအရှင်မြတ်သည် အသိဉာဏ်ကို အသုံးမပြုသော သူတို့အပေါ်၌သာလျှင် မစင်ကြယ်မှုကို သက်ရောက်စေတော်မူချေသတည်း။[၁]

(၁) အချို့သူများသည် မိမိတို့အား အလ္လာဟ်အရှင်မြတ် ပေးသနားတော်မူသော အသိဉာဏ် အမြော်အမြင်ကို အလျင်းအသုံးမပြုကြ။ အမှန်တရားကို လက်ခံနာယူရန် စိတ်ကူးတွင်မျှပင် မထည့်ကြပေ။ အလ္လာဟ်အရှင်မြတ်၏ အလိုတော်သည် ထိုသို့သောသူများနှင့်ကား မပတ်သက်ပေ။ ထိုသို့သော သူများကိုသာလျှင် အလ္လာဟ်အရှင်မြတ်သည် "ကုဖ်ရ်" တည်းဟူသော အညစ်အကြေးတွင် နစ်မွန်း၍နေစေ တော်မူလေသည်။ ➤➤

قُلِ انْظُرُوْا مَاذَا فِي السَّمٰوٰتِ وَالْاَرْضِ ۭ وَمَا تُغْنِي الْاٰيٰتُ وَالنُّذُرُ عَنْ قَوْمٍ لَّا يُؤْمِنُوْنَ ۝١٠١

**၁၀၁။** (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့)အသင်တို့သည် မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ အဘယ်ကဲ့သို့သောအရာများရှိကြသည်ကို ကြည့်ရှု (ဆင်ခြင်)ကြလေကုန်။ စင်စစ်မူကား မယုံကြည်(လို)သောသူတို့အား သက်သေ လက္ခဏာများသည်လည်းကောင်း၊ သတိပေး နှိုးဆော်ချက်များသည်လည်းကောင်း၊ အကျိုးပေးသည်မဟုတ်ချေ။ ၁

فَهَلْ يَنْتَظِرُوْنَ اِلَّا مِثْلَ اَيَّامِ الَّذِيْنَ خَلَوْا مِنْ قَبْلِهِمْ ۭ قُلْ فَانْتَظِرُوْٓا اِنِّىْ مَعَكُمْ مِّنَ الْمُنْتَظِرِيْنَ ۝١٠٢

**၁၀၂။** သို့ပါလျက် ၎င်းတို့သည် မိမိတို့အလျင်လွန်လေပြီးခဲ့ကြသောသူတို့၏ ဘေးအန္တရာယ်များကဲ့သို့သော ဘေးအန္တရာယ်ကိုသာ မျှော်လင့်လျက်ရှိကြလေသလော။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား အချင်းတို့) "ဤသို့ဖြစ်လျှင် အသင်တို့သည်မျှော်လင့်ကြလေကုန်၊ ငါသည်လည်း အသင်တို့နှင့်အတူ မျှော်လင့်သူတို့အနက် တစ်ဦးအပါအဝင်ဖြစ်သည်" ဟု ပြောကြားပါလေ။

---

➤➤ ဤသို့သော အာယတ်တော်များကို ထောက်ရှုခြင်းအားဖြင့် အီမာန် ယုံကြည်မှုနှင့် တရားရရှိမှုတွင် အလ္လာဟ်အရှင်မြတ်၏ ဘက်တော်မှ အတားအဆီး တစ်စုံတစ်ရာမျှ မရှိကြောင်း၊ လူသားတို့၏ အမြင်မှားမှုနှင့်၊ မကောင်းသော စေတနာသည်သာလျှင် ၎င်းတို့၏ ယုံကြည်မှုနှင့် တရားရရှိမှုများတွင် အတားအဆီးဖြစ်လျက်ရှိကြောင်း ကောင်းစွာ သိရှိရပေသည်။ ဤအာယတ်တော်တွင် "ရစ်ဂျ်စ်" ဟူသောပုဒ်ကို "အီမာန်" ဟူသောပုဒ်နှင့်ယှဉ်၍ သုံးနှုန်းထားတော်မူ၏။ "ရစ်ဂျ်စ်" ဟူသောပုဒ်၏ အနက်သဘောမှာ "ကုဖ်ရ်" သွေဖည်ငြင်းဆန်မှု ဟူ၍သာ ဖြစ်ပေသည်။

(မာဂျိဒီ၊ အစောင် ၃၊ စ-၄၅၅၊ အအ-၁၅၀။)

① အသိဉာဏ်ကို အသုံးပြု၍ စဉ်းစား၊ ဆင်ခြင်၊ မော်မြင်ကြသူများအဖို့ မိုးကောင်းကင်များနှင့် ပထဝီမြေတွင် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တ ရှိနေတော်မူကြောင်းညွှန်ပြလျက်ရှိသော နိမိတ်လက္ခဏာများ မရေတွက်နိုင်အောင်ရှိနေပေသည်။ ကမ္ဘာအဝှန်းတွင် ရှိရှိသမျှသောသက်ရှိ၊ သက်မဲ့ ပုပ္ပရွှရှူသမျှတို့သည် ထိုအရှင်မြတ် တစ်ဆူတည်းဖြစ်တော်မူကြောင်းကို သက်သေခံလျက်ရှိပေသည်။ သို့တစေလည်း မယုံကြည်လိုသူများ အဖို့မှာကား ထိုထိုသော နိမိတ်လက္ခဏာများသည်ပင် အသုံးမဝင်ပေ။ နဗီတမန်တော်များ၏ သတိပေး နှိုးဆော်ချက်များသည်လည်း အကျိုးမဖြစ်ထွန်းနိုင်ပေ။

ثُمَّ نُنَجِّيْ رُسُلَنَا وَالَّذِيْنَ اٰمَنُوْا
كَذٰلِكَ ۚ حَقًّا عَلَيْنَا نُنْجِ
الْمُؤْمِنِيْنَ ﴿١٠٣﴾

**၁၀၃။** ထိုနောက် ငါအရှင်မြတ်သည် မိမိရစူလ် တမန်တော်များအားလည်းကောင်း၊ 'အီမာန်' သက်ဝင် ယုံကြည်ခဲ့ကြကုန်သောသူတို့အား လည်းကောင်း၊ ကယ်ဆယ်တော်မူလေ့ရှိခဲ့သည်။ ဤနည်းအတိုင်းပင် ငါအရှင်မြတ်အပေါ်၌ (ကယ်ဆယ်ရန်) တာဝန်တော် ရှိ၏။ ငါအရှင်မြတ်သည် 'မုအ်မင်န်' သက်ဝင် ယုံကြည်သူတို့အား ကယ်ဆယ်တော်မူပေမည်။

قُلْ يٰٓاَيُّهَا النَّاسُ اِنْ كُنْتُمْ
فِيْ شَكٍّ مِّنْ دِيْنِيْ فَلَآ اَعْبُدُ
الَّذِيْنَ تَعْبُدُوْنَ مِنْ دُوْنِ
اللّٰهِ وَلٰكِنْ اَعْبُدُ اللّٰهَ الَّذِيْ
يَتَوَفّٰىكُمْ ۚ وَاُمِرْتُ اَنْ اَكُوْنَ
مِنَ الْمُؤْمِنِيْنَ ﴿١٠٤﴾

**၁၀၄။** (အို-နဗီတမန်တော်) အသင်သည် (ဤသို့) ပြောကြားပါလေ။ "အို-လူအပေါင်းတို့ အကယ်၍ အသင်တို့သည် ငါ၏ 'ဒီန်' သာသနာတော်နှင့် စပ်လျဉ်း၍ ဒွိဟသံသယ၌ (နစ်မွန်းလျက်) ရှိကြပါမူ ငါသည် အသင်တို့ အလ္လာဟ် အရှင်မြတ်အား စွန့်လွှတ်၍ ကိုးကွယ်ဆည်းကပ်လျက် ရှိကြသည်တို့ ကို ကိုးကွယ်ဆည်းကပ်သည် မဟုတ်ပေ။

စင်စစ်မှာမူကား ငါသည် အသင်တို့၏ အသက်ဇီဝိန်ကို နှုတ်သိမ်းတော်မူသော အလ္လာဟ် အရှင်မြတ်ကိုသာ ကိုးကွယ်ဆည်းကပ်ပေသည်။ ထိုမှတစ်ပါး ငါသည် မုအ်မင်န်သက်ဝင် ယုံကြည် သူတို့တွင် တစ်ဦးအပါအဝင်ဖြစ်ရန် (အလ္လာဟ် အရှင်မြတ်အထံတော်မှ) အမိန့်ပေးခြင်းခံခဲ့ရလေ သတည်း။

وَاَنْ اَقِمْ وَجْهَكَ لِلدِّيْنِ
حَنِيْفًا ۚ وَلَا تَكُوْنَنَّ مِنَ
الْمُشْرِكِيْنَ ﴿١٠٥﴾

**၁၀၅။** ထို့ပြင် အသင်သည် မိမိမျက်နှာကို 'ဒီန်' သာသနာတော်ဘက်သို့ သဒ္ဓါကြည်ဖြူစွာ လှည့်ထား ပါလေ။ ထိုမှတစ်ပါး အသင်သည် 'မုရှ်ရစ်က်' တို့တွင် အပါအဝင် မဖြစ်ပါလေနှင့် (ဟူ၍လည်း အမိန့်တော် ရရှိ၏။)

وَلَا تَدۡعُ مِن دُونِ ٱللَّهِ مَا لَا يَنفَعُكَ وَلَا يَضُرُّكَ فَإِن فَعَلۡتَ فَإِنَّكَ إِذٗا مِّنَ ٱلظَّٰلِمِينَ ١٠٦

၁၀၆။ ၎င်းပြင် အသင်သည် အလ္လာဟ်အရှင်မြတ်အပြင် မိမိအား အကျိုးလည်း မဖြစ်ထွန်းစေနိုင်သော အကျိုးယုတ်စေခြင်းကိုလည်း မပြုနိုင်စွမ်းနိုင်သော အရာများကို ဟစ်ခေါ်ခြင်း မပြုပါလေနှင့်၊ တစ်ဖန် အကယ်၍ အသင်သည် ပြုမိခဲ့ပါသော် ဧကန်စင်စစ် အသင်သည် ထိုသို့ပြုမိသောကြောင့် (မိမိတို့ကိုယ်ကို မိမိတို့ပင်) နှိပ်စက် ညှဉ်းပန်းသူတို့တွင် အပါအဝင် ဖြစ်သွားပေမည်(ဟူ၍လည်း အမိန့်တော်ရရှိ၏။)

وَإِن يَمۡسَسۡكَ ٱللَّهُ بِضُرّٖ فَلَا كَاشِفَ لَهُۥٓ إِلَّا هُوَۖ وَإِن يُرِدۡكَ بِخَيۡرٖ فَلَا رَآدَّ لِفَضۡلِهِۦۚ يُصِيبُ بِهِۦ مَن يَشَآءُ مِنۡ عِبَادِهِۦۚ وَهُوَ ٱلۡغَفُورُ ٱلرَّحِيمُ ١٠٧

၁၀၇။ စင်စစ်သော်ကား အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် အသင့်၌ အန္တရာယ် တစ်စုံတစ်ရာကို သက်ရောက်စေတော်မူပါလျှင်၊ ထိုအရှင်မြတ်မှ တစ်ပါး ထိုအန္တရာယ်ကို ကင်းဝေးစေအံ့သောသူဟူ၍ တစ်ဦးတစ်ယောက်မျှ ရှိမည်မဟုတ်ပေ။ ထို့နည်းတူစွာ အကယ်၍ ထိုအရှင်မြတ်သည် အသင့်၌ တစ်စုံတစ်ရာသော အကျိုးကျေးဇူးတော်ကို (ဖြစ်ထွန်းစေရန်) ရည်စူးတော်မူပါလျှင် ထိုအရှင်မြတ်၏ ကျေးဇူးတော်ကို တွန်းလှန်ပယ်ရှားနိုင်သူလည်း တစ်ဦးတစ်ယောက်မျှပင်မရှိချေ။

ထို အရှင်မြတ်သည် မိမိကျွန်များအနက်မှ မိမိ အလိုရှိတော်မူသော သူ၌ ထိုကျေးဇူးတော်ကို သက်ရောက်စေတော်မူသည်။ စင်စစ်တစ်မူကား ထို အရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော် မူသော အရှင်၊ အလွန်တရာ သနားကြင်နာတော် မူသော အရှင် ဖြစ်တော်မူပေသတည်း။

قُلْ يَٰٓأَيُّهَا ٱلنَّاسُ قَدْ جَآءَكُمُ ٱلْحَقُّ مِن رَّبِّكُمْ ۖ فَمَنِ ٱهْتَدَىٰ فَإِنَّمَا يَهْتَدِى لِنَفْسِهِۦ ۖ وَمَن ضَلَّ فَإِنَّمَا يَضِلُّ عَلَيْهَا ۖ وَمَآ أَنَا۠ عَلَيْكُم بِوَكِيلٍ ﴿١٠٨﴾

**၁၀၈။** (အို-နဗီတမန်တော်) အသင်သည် (ဤသို့ တစ်ဖန်) ပြောကြားပါလေ။ အို-လူအပေါင်းတို့၊ အမှန်စင်စစ် အသင်တို့ထံ အသင်တို့၏ အရှင်မြတ် အထံတော်မှ အမှန်တရားသည် [၁] ရောက်ရှိ၍ လာခဲ့လေပြီ။ သို့ဖြစ်ပေရာ မည်သူမဆို တရားလမ်းမှန်ကို ရရှိခဲ့ပါလျှင် ထိုသူသည် မိမိအကျိုးငှာ တရားလမ်းမှန်ကိုရရှိခဲ့သည်ပင်။ ထိုနည်းတူစွာ မည်သူမဆို လမ်းမှားခဲ့ပါမူ ထိုသူသည် မိမိကိုယ်နှင့် ဆန့်ကျင်၍သာ လမ်းမှားခဲ့သည်ပင်။ စင်စစ် ငါသည် အသင်တို့အပေါ်၌ တာဝန်ခံ မဟုတ်ချေတကား။

وَٱتَّبِعْ مَا يُوحَىٰٓ إِلَيْكَ وَٱصْبِرْ حَتَّىٰ يَحْكُمَ ٱللَّهُ ۚ وَهُوَ خَيْرُ ٱلْحَٰكِمِينَ ﴿١٠٩﴾

**၁၀၉။** ထို့ပြင် (အို-နဗီတမန်တော်) အသင်သည် မိမိထံ ထုတ်ပြန်တော်မူခြင်းခံရသော 'ဝဟီ' အမိန့်တော်ကိုသာ လိုက်နာပါလေ၊ ၎င်းပြင် အသင်သည် အလ္လာဟ်အရှင်မြတ် စီရင်ဆုံးဖြတ်တော်မူသည်အထိ သည်းခံ၍နေပါလေ။ စင်စစ်သော်ကား ထိုအရှင်မြတ်သည် အကောင်းဆုံး စီရင်ဆုံးဖြတ်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) "အမှန်တရား"သည် ကုရ်အာန်ကျမ်းတော်မြတ်နှင့် 'အစ္စလာမ်' ကို ဆိုလိုသည်။ အချို့က "အမှန်တရား" ဟူသည် "အလ္လာဟ်အရှင်မြတ်ထံတော်မှ အမှန်တရားကို ယူဆောင်လာသော တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)အား ရည်ညွှန်းတော်မူသည်" ဟု ဆိုကြသည်။

# တမန်တော်ဟူဒ်ကဏ္ဍ



ဤကဏ္ဍသည် တမန်တော်ဟူးဒ်(အလိုင်ဟစ္စလာမ်)၏အကြောင်း ပါရှိသော ကဏ္ဍဖြစ်သည်၊ ဤကဏ္ဍသည် မက္ကာမြို့တော်၌ ထုတ်ပြန်ချမှတ်တော်မူသော ကဏ္ဍဖြစ်သည်၊ ဤကဏ္ဍတွင် အာယတ်တော် (၁၂၃)၊ ရူကူအ်အပိုဒ် (၁၀)ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမ်တော်ဖြင့် အစပြုပါ၏။

الٓرٰ

كِتٰبٌ اُحْكِمَتْ اٰيٰتُهٗ ثُمَّ فُصِّلَتْ مِنْ لَّدُنْ حَكِيْمٍ خَبِيْرٍ ①

၁။ 'အလစ်ဖ်၊ လာမ်၊ ရာ'။

ဤသည် အကြင်ကျမ်းဂန်တော်တစ်ဆူတည်း၊ ထိုကျမ်းဂန်၏ 'အာယတ်'တော်များသည် မြဲမြဲခိုင်ခံ့ *အောင်ပြုလုပ်ပြီး ဖြစ်ချေသည်။* [၁] *ထို့ပြင်တဝ* [၂] ထိုအာယတ်တော်များသည် ကျိုးကြောင်း ဆင်ခြင်တုံ တရားနှင့်ပြည့်စုံတော်မူသော အကြွင်းမဲ့သိ(မြင်)တော် မူသောအရှင်မြတ်အထံတော်မှ အသေးစိတ် ရှင်းလင်း ဖော်ပြပြီး ဖြစ်ပေသည်။

---

(၁) ကုရ်အာန်ကျမ်းတော်မြတ်သည် အထူးထူးသော ဝိသေသဂုဏ်နှင့် ပြည့်စုံသည့် ကျမ်းတော်မြတ်တစ်ဆူ ဖြစ်ချေသည်။ ဤကျမ်းတော်ကြီးတွင် သုံးနှုန်းထားတော်မူသည့် အသုံးအနှုန်းများသည် စာပေမြောက်လှ၏။ ကျန်စာပေများနှင့်မတူ တစ်မူထူးခြားလှ၏။ အနက်အဓိပ္ပာယ်များကား တိကျမှန်ကန်လှ၏။ ပြည့်ဝစုံလင်လှ၏။ ရှေ့နောက် အဆင်မပြေမှု အနက်သဘောချင်း ဆန့်ကျင်မှု အလျင်းမရှိ၊ ဖောက်ပြန်ချွတ်ယွင်း ယုတ္တိကင်းမှု တစ်စုံတစ်ရာ အလျင်းမရှိ၊ ဤကျမ်းတော်မြတ်တွင် နုတ်ပယ်ရန်လည်းမရှိ၊ ဖြည့်စွက်ရန်လည်းမရှိ၊ ချိန်ခွင်လျှာပမာ တည့်မတ်လှ၏။ ဤကျမ်းတော်မြတ်ကို အတိတ်ခေတ်တွင်လည်း မည်သူတစ်ဦးတစ်ယောက်ကမျှ ဝေဖန်နိုင်ခဲ့သည် မရှိ၊ ယခုခေတ်တွင်လည်း မရှိ၊ နောင်အနာဂတ်တွင်လည်း ပေါ်ပေါက်ရန်အကြောင်း အလျင်းမရှိပေ။

ကုရ်အာန်ကျမ်းတော်မြတ် တစ်စောင်လုံးကို မဆိုထားဘိ။ အာယတ်တော် တစ်ပါးမျှကိုပင် တစ်နည်း တစ်ဖုံ ပြောင်းလဲကာ မူရင်းထက် ပိုမိုကောင်းမွန်စေရန် စီရင်ရေးသားရန် အလျင်းမဖြစ်နိုင်သောကိစ္စပင်။ မူရင်းကုရ်အာန်ထက် ပိုမိုကောင်းမွန်စေရန် စီရင်ရေးသားခြင်းကိုထားဘိ၊ အလားတူစွာ စီရင်ရေးသားရန်ပင် အလျင်းမဖြစ်နိုင်ပေ။



أَلَّا تَعْبُدُوٓا۟ إِلَّا ٱللَّهَ ۚ إِنَّنِى لَكُم مِّنْهُ نَذِيرٌ وَبَشِيرٌ ﴿٢﴾

၂။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်မှ တစ်ပါး တစ်စုံတစ်ရာကိုမျှ မကိုးကွယ်၊ မဆည်းကပ်ကြကုန်လင့်၊ [၁]

➤➤ ကုရ်အာန်ကျမ်းတော်မြတ်တွင် ပါရှိသော အခြေခံသဘောတရားများ၊ အခြေခံစည်းမျဉ်းများ၊ နည်းဥပဒေများ၊ အကျင့်စာရိတ္တများ၊ ကျင့်ရန် ကြဉ်ရန်တရားများ၊ လိုက်နာကျင့်သုံးရန် အဆုံးအမ ဩဝါဒတော်များ၊ အထောက်အထားများ၊ သက်သေ၊ သာဓကများကား ပညာရေးလောကအတွက် တိကျမှန်ကန်လှ၏။ အံ့ဝင်ခွင်ကျရှိလှ၏။ ခေတ်အဆက်ဆက်ပင် ပြောင်းခဲ့ပြီဖြစ်သော်လည်း ကုရ်အာန်ကျမ်းတော်မြတ်လာ အာယတ်တော်များတွင်မူ စိုးစဉ်မျှ အပြောင်းအလဲမရှိ။ ကမ္ဘာအဝှန်းကို စတင်ဖန်ဆင်းတော်မူသော၊ ကမ္ဘာ့အကြောင်းကို စ၊ လယ်၊ ဆုံး အကြွင်းမဲ့ သိတော်မူသော အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်မွေခန် ဖြစ်သည့်အလျောက် ယင်းကျမ်းတော်မြတ်သည် ခေတ်တိုင်း၊ လူမျိုးတိုင်း၊ အခြေအနေတိုင်းနှင့် အမြဲတမ်းပင် အဆင်ပြေနေမည်မှာ မုချဧကန်ဖြစ်သည်။ ယုံမှားဖွယ်ရာဟူ၍ကား အလျင်းမရှိ။

ယင်းသို့ အထူးထူးသော ဝိသေသဂုဏ်များနှင့် ပြည့်စုံသည့် ကျမ်းတော်မြတ် ကုရ်အာန်မွေခန်သည် အနက်အဓိပ္ပာယ် မရှင်းမလင်းဖြစ်၍ကားမနေ၊ အထူးပင် ရှင်းလင်းပေါ်လွင်လှပေသည်။ လောကီ၊ လောကုတ္တရာရေး ဟူသမျှတို့ကို လိုလေသေးသည်မရှိ၊ ပြည့်စုံ ကုံလုံစွာပင် ဖွင့်ဆိုမိန့်ကြားထားတော်မူသဖြင့် ထပ်ဆင့်ရှင်းလင်းရန် မလိုသော ကျမ်းတော်မြတ်တစ်ဆူလည်း ဖြစ်ချေသည်။ ထို့ပြင်တစ်ဝ ဝိသေသထူးများနှင့် ပြည့်စုံလှသည့် ဤကုရ်အာန်ကျမ်းတော်မြတ်ကို ထုတ်ပြန်ချမှတ်ရာ တွင်လည်း စ၊လယ်၊ ဆုံး တကြိမ်တည်းထုတ်ပြန် ချမှတ်တော်မူလိုက်သည်မဟုတ်၊ အခြေအနေအလိုက် လိုအပ်သည်နှင့်အမျှ တဖြည်းဖြည်း ထုတ်ပြန်ချမှတ်တော်မူခဲ့ခြင်းပင် ဖြစ်ပေသည်။

အထက်တွင် ရေးသားဖော်ပြထားသည့်အတိုင်း အထူးထူးသော ဝိသေသဂုဏ်များနှင့်ပြည့်စုံသည့် ဤကုရ်အာန်ကျမ်းတော်မြတ်အတွက် လူသားတို့သည် အံ့မဆုံးဖြစ်ကြရလေသည်။ အမှန်စင်စစ် အံ့မဆုံးဖြစ်ရန် အကြောင်းမရှိ၊ အဘယ်ကြောင့်ဆိုသော် တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်၏ ရွှေနှုတ်တော်ထွက် မွေစကတ်တွင် ဤသို့သော ဝိသေသထူးများ မရှိလျှင် အသူ၏ကျမ်းတွင် ရှိနိုင်အံ့နည်း။

(၂) 'ဆွန်းမ္မ'' ဟူသောပုဒ်၏အဓိပ္ပာယ်မှာ များသောအားဖြင့် 'ထို့နောက်' 'ငင်းနောက်'၊ 'ပြီးနောက်'၊ 'ထို့နောက်တစ်ဖန်' ဟူ၍ဖြစ်သည်။ သို့ရာတွင် ဤအာယတ်တော်၌ လာရှိသော 'ဆွန်းမ္မ'ဟူသော ပုဒ်၏အဓိပ္ပါယ်ကား 'ထို့နောက်' ဟူ၍မဟုတ် 'ထို့ပြင်တစ်ဝ'ဟူ၍ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အကယ်၍ ဤအာယတ်တော်တွင် 'ဆွန်းမ္မ'ဟူသောပုဒ်ကို 'ထို့နောက်' ဟူ၍ ဘာသာပြန်ဆိုပါက 'ကုရ်အာန်ကျမ်းတော်မြတ်လာ အာယတ်တော်များကို အလျင်၊ ဦးစွာပထမ ခိုင်မာအောင်ပြုလုပ်တော်မူ၏၊ ထို့နောက်မှ ထိုအာယတ်တော်များကို ရှင်းလင်းစွာ ထုတ်ပြန်မိန့်ကြားတော်မူသည်' ဟူသော အဓိပ္ပါယ်ဖြစ်သွားပေသည်။ ဤသို့ကားမဟုတ်၊ ဆိုလိုသည်ကား 'ကုရ်အာန်ကျမ်းတော် မြတ်လာ အာယတ်တော်များကို ခိုင်မာစွာပြုလုပ်ထားတော်မူသည်သာမက ရှင်းလင်းစွာလည်း ပြုလုပ်ထားတော်မူသည်။ ' ဟူ၍ဖြစ်ပေသည်။

(၁) အထူးထူးသော ဝိသေသနဂုဏ်နှင့် ပြည့်စုံသော ကုရ်အာန်ကျမ်းတော်မြတ်၏အဓိကရည်ရွယ်ချက်မှာ "လူသားတို့သည် တစ်ဆူတည်းဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကိုသာ ➤➤

ဧကန်စင်စစ် ငါသည် အသင်တို့အဖို့ ထို အရှင်မြတ် အထံတော်မှ သတိပေး နှိုးဆော်သူနှင့် ဝမ်းမြောက်ဖွယ်ရာ သတင်းကောင်း ယူလာသူ ဖြစ်ပေသတည်း။

وَّاَنِ اسْتَغْفِرُوْا رَبَّكُمْ ثُمَّ تُوْبُوْٓا اِلَيْهِ يُمَتِّعْكُمْ مَّتَاعًا حَسَنًا اِلٰٓى اَجَلٍ مُّسَمًّى وَّ يُؤْتِ كُلَّ ذِيْ فَضْلٍ فَضْلَهٗ ۭ وَاِنْ تَوَلَّوْا فَاِنِّىْٓ اَخَافُ عَلَيْكُمْ عَذَابَ يَوْمٍ كَبِيْرٍ ۝

၃။ ထို့ပြင် အသင်တို့သည် မိမိတို့အား ဖန်ဆင်း မွေးမြူတော် မူသော အရှင်မြတ် အထံတော်တွင် လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားကြလေကုန်၊ ထို့နောက် အသင်တို့သည် ထိုအရှင်မြတ်အထံတော်၌ ဝန်ချ တောင်းပန်လျက်ရှိကြလေကုန်။ ထိုအရှင်မြတ်သည် အသင်တို့အား သတ်မှတ်ပြီးဖြစ်သော အချိန်ကာလ တိုင်အောင် ကောင်းမွန်လှစွာသော စည်းစိမ်များကို ခံစားစေတော်မူမည်။ ထိုမှတစ်ပါး ထိုအရှင်မြတ် သည် အကျင့်အမူအားဖြင့် ပိုမိုသောသူတိုင်းကို ၎င်း၏ပိုမို(၍ရထိုက်)သော အကျိုးကို ချီးမြှင့် ပေးသနားတော်မူပေမည်။

---

➤➤ လိုက်နာကျင့်သုံးကြရန်ဖြစ်ချေသည်။ ဤသည့် ရည်ရွယ်ချက်အတွက်ပင် တမန်တော်များ ပွင့်လာခဲ့ကြရ ပေသည်။ (ကြည့်-ကုရ်အာန်-၁၆:၃၆။ ၂၁:၂၅။)

တမန်တော်များသည် ထိုဒေသနာတော်များကို လိုက်နာကျင့်သုံးကြသူတို့အား နှစ်ဘဝလုံး၌ အောင်မြင်ကြမည့်အကြောင်း ဝမ်းမြောက်ဖွယ် သတင်းပေး၍ ထိုဒေသနာတော်များကို သွေဖည်၊ ငြင်းဆန်၊ မနာခံသူတို့အား ပြစ်ဒဏ်တော်ခံကြရမည့်အကြောင်း သတိပေးနှိုးဆော်ကြပေသည်။

လူသားတို့သည် မိမိတို့၏အရှင်မြတ်ထံတော်၌သာ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားကြရမည်။ ကောင်းမွန်၊ မြင့်မြတ်သော အကျင့်သီလများကို ဆောက်တည်၍ ထိုအရှင်မြတ်ထံတော်သို့သာ လှည့်ကြရမည်။ သို့ဖြစ်လျှင် ထိုအရှင်မြတ်သည် လူသားတို့အား ဤပစ္စက္ခဘဝတွင် သတ်မှတ်ထားသည့် အချိန်အထိ (ဝါ) သေဆုံးသည်အထိ လောကီစည်းစိမ်နှင့် ချမ်းသာမှုများကို ချီးမြှင့်တော်မူပေမည်။

ထို့ပြင်တစ်ဝ အကျင့်သီလတွင် ပိုမိုထူးကဲသူတို့အား နောင်တမလွန်ဘဝတွင် ကုသိုလ်အကျိုးပိုမိုထူးကဲစွာ ချီးမြှင့်တော်မူပေမည်။

အထက်ပါ အာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် "ဤပစ္စက္ခဘဝတွင် သူတော်စင်အဖြစ်နှင့် နေထိုင် အသက်မွေးမြူခြင်းသည် လောကီစည်းစိမ်ခံစားရန် အကြောင်းတစ်ရပ် ဖြစ်ကြောင်း" ကောင်းစွာ သိရှိနိုင်ပေသည်။ (မာဂျိဒီ။)

သို့ရာတွင် အကယ်၍၊ အသင်တို့သည် မျက်နှာ လွှဲဖယ်လျက်ပင် ရှိကြပါလျှင် ငါသည် အသင်တို့နှင့် ပတ်သက်၍ ကြီးကျယ်သော နေ့၏ ပြစ်ဒဏ်ကို စိုးရိမ်လေသည်။

إِلَى اللّٰهِ مَرْجِعُكُمْ ۚ وَهُوَ عَلَىٰ كُلِّ شَيْءٍ قَدِيرٌ ④

၄။ အသင်တို့၏ ပြန်လည်ခြင်းသည် အလ္လာဟ် အရှင်မြတ် အထံတော်သို့ပင် ဖြစ်၏။ ၎င်းပြင် ထို အရှင်မြတ်သည် အရာ ခပ်သိမ်းတို့ကို ပြုနိုင် စွမ်းနိုင်တော် မူသော အရှင်မြတ်ပင် ဖြစ်တော်မူ ပေသတည်း။

أَلَا إِنَّهُمْ يَثْنُونَ صُدُورَهُمْ لِيَسْتَخْفُوا مِنْهُ ۚ أَلَا حِينَ يَسْتَغْشُونَ ثِيَابَهُمْ يَعْلَمُ مَا يُسِرُّونَ وَمَا يُعْلِنُونَ ۚ إِنَّهُ عَلِيمٌ بِذَاتِ الصُّدُورِ ⑤

၅။ သတိပြုကြလေကုန်၊ ဧကန်မလွဲ ၎င်းတို့သည် (မိမိတို့၏ စကားများကို) အလ္လာဟ်အရှင်မြတ်အပေါ် ၌ လျှို့ဝှက်ဖုံးအုပ်နိုင်ကြရန် မိမိတို့၏ ရင်ဘတ်(စိတ်) ကို ခေါက်ကြလေသည်။ သတိပြုကြလေကုန်၊ ထိုသူ တို့သည် မိမိတို့၏ အဝတ်အထည်များကို လွှမ်းခြုံ ကြသောအခါ(၌လည်း) ထိုအရှင်မြတ်သည် ထိုသူ တို့ ဖုံးကွယ်ထားကြသည်များကိုလည်းကောင်း၊ ယင်းသူတို့ ထင်ရှားစေကြသည်များကိုလည်းကောင်း၊ သိရှိတော်မူ၏။ ဧကန်စင်စစ် ထိုအရှင်မြတ်သည် ရင်ဘတ်(စိတ်)များဝယ် ကိန်းအောင်းလျက်ရှိသည် တို့ကို အကြွင်းမဲ့ သိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း၊[၁]

(၁) ဤအာယတ်တော်၏ အဖွင့်နှင့်စပ်လျဉ်း၍ အဆိုအမျိုးမျိုးရှိသည်။
(က) အလ္လာဟ်အရှင်မြတ်သည် နံ့စပ်စွာ သိမြင်တော်မူသော ဉာဏ်တော်ရှင်ဖြစ်တော်မူ၏၊ အရာခပ်သိမ်း ကုန်တို့ကို အကြွင်းမဲ့သိတော်မူ၏။ ကာဖိရ်နှင့် မုနာဖစ်က်တို့သည် အလ္လာဟ်အရှင်မြတ်၏ ဤသည့်ဂုဏ်တော်ကို မေ့နေကြ၏။ သို့မဟုတ်ပါမူ ၎င်းတို့သည် အစ္စလာမ်သာသနာတော်နှင့် စပ်လျဉ်း၍သော်လည်းကောင်း၊ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် စပ်လျဉ်း၍သော်လည်းကောင်း၊ မကောင်းသော အကြံ အစည်များကို စိတ်ကူးထဲ၌ပင် ထည့်ကြမည်မဟုတ်ပေ။ ထို့အတွက်ကြောင့်လည်း ဤသည့်ဂုဏ်တော်ကိုပင် ကုရ်အာန် ကျမ်းတော်မြတ်တွင် မကြာခဏထုတ်ဖော် မိန့်ကြားထားတော်မူ ခြင်းဖြစ်သည်။ ➢➢

➤➤ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အမျိုးမျိုးသော ဆန့်ကျင်ရေးတို့နှင့် ရင်ဆိုင်တော်မူခဲ့ရ၏။ ထိုဆန့်ကျင်၊ သွေဖည်ရေးသမားတို့တွင် အုပ်စုတစ်ခုသည် အထူးလျှို့ဝှက်စွာဖြင့် အစ္စလာမ်သာသနာတော်နှင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ဖျက်ဆီးရန် အကြံအစည်များ ပြုလုပ်ကြ၏။ ၎င်းတို့သည် ယင်းသို့ လျှို့ဝှက်စွာ ကြံစည်သည့်အခါတွင် ၎င်းတို့၏ အလွန်အတွင်းကျသည့် အထူးလျှို့ဝှက်ချက်များကို အထူးလုံခြုံစေရန်အတွက် အလွန့်အလွန်လုံခြုံသည့်နေရာများတွင် တံခါးပိတ် အစည်းအဝေးများ ပြုလုပ်ကြ၏။ အလွန့်အလွန် ကျုံ့၍ကျုံ့၍ ထိုင်ကြ၏၊ ရင်ဘတ်များကို နှစ်ထပ်ပြုလုပ်ထားကြ၏၊ ထို့ပြင်တစ်ဝ အပေါ်မှ စောင်များကိုပင် ရုံထားလိုက်ကြသေး၏။ ကုရ်အာန်ကျမ်းတော်မြတ်တွင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ ဤသည့်လျှို့ဝှက်ကြံစည်မှုကို ဖွင့်ဟမိန့်ဆိုထားတော်မူသည်။

(ခ) ဗုခါရီကျမ်းတွင် လာရှိသည်မှာ "တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ လက်ထက်တော်တွင် အချို့မွတ်စ်လင်မ်များသည် ဟီရီသြတပ္ပ-အရှက်အကြောက်အရာ၌ အလွန်ကျုံနေခဲ့ကြ၏။ ကျင်ကြီးကျင်ငယ် စွန့်ရာ၌၊ ကာယသံသဂ္ဂ အမှုပြုရာ၌ လူ့သဘာဝအလျောက် မလွဲမရှောင်သည့် အချိန်များအတွက် ခေတ္တခဏ အနည်းငယ် ဝတ်လစ်စားလစ်ဖြစ်ရသည်ကိုပင် 'အလ္လာဟ်အရှင်မြတ်သည် ငါတို့အား မြင်နေတော်မူသည်' ဟုမှတ်ယူကာ အလွန်ရှက်တတ်ကြ၏။ ဝတ်လစ်စားလစ် ဖြစ်ရသည့်အချိန်တွင် အလွန်အရှက်ကြီးကြသည့်အတွက် ဦးခေါင်းငုံ့၍ နေကြ၏။ အရှက်မပေါ်လာစေရန်အတွက် ရင်ဘတ်ကို နှစ်ထပ်ပြုလုပ်ထားကြ၏။

အလ္လာဟ်အရှင်မြတ်အား အလွန့်အလွန် ရိုသေခန့်ညားမှုနှင့် အလွန့်အလွန် အရှက်ကြီးမှုများကြောင့် ဤကဲ့သို့သောအဖြစ်များ တစ်ခါတစ်ရံ ဖြစ်ပေါ်နိုင်ပေသည်။ ဤကဲ့သို့ဖြစ်တတ်သော ပုဂ္ဂိုလ်များကို 'ဆူဖီ' များ၏အသုံးအနှုန်းအရ "မဃ်လူဗုလ်ဟာလ်" ဟုခေါ်ဆိုသည်။

'ဆွဟာဗဟ်' သာဝကကြီးများ(ရဿေဝ့ယလ္လာဟုအန်နှ်ဟွန်မ်)သည် ပြဿနာတစ်ခုခုတွင် ယခုကဲ့သို့ လိုအပ်သည်ထက် ပိုနေပါက ယင်းပိုနေမှုသည် နောင်တစ်ချိန်တွင် မွတ်စ်လင်မ်တို့အဖို့ ခဲယဉ်းကျပ်တည်းမှု ဖြစ်စေနိုင်သည့်အတွက်ကြောင့် ဤအာယတ်တော်တွင် ဤသည့် ပိုနေသောအချက်ကို ပြင်ဆင်ရန် မိန့်ထားတော်မူခြင်း ဖြစ်သည်။ ဆိုလိုသည်ကား မလွှဲမရှောင်သာ၍ ခေတ္တခဏ အနည်းငယ် ဝတ်လစ်စားလစ် ဖြစ်ရသည့်အတွက် အလ္လာဟ်အရှင်မြတ်အား အလွန်ရှက်ကြောက်ပြီး ဦးခေါင်းများကို ငုံ့ထားကြသည်ဆိုလျှင် စဉ်းစားရမည့်အချက်တစ်ရပ်ကား လူသားတို့သည် အဝတ်အထည် အပြည့်အစုံ လုံလုံခြုံခြုံ ဝတ်ဆင်ထားကြသည့် အချိန်တွင် ထိုအရှင်မြတ်သည် လူသားတို့၏အတွင်းအပြင်ကို မသိတော်၊ မမြင်တော်မူလေသလော၊ ထိုအရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့သိတော်၊ မြင်တော်မူသည်၊ မည်သည့်အချိန်၌မျှ ထိုအရှင်မြတ်ထံမှ လူသားတို့သည် မည်သို့မျှပုန်းကွယ်နိုင်ကြသည်ဟူ၍ မရှိပေရာ လူ့သဘာဝအလျောက် မလွဲမရှောင်သာသည့် ထိုအချိန်အခါမျိုးတွင်ပင် ယင်းသို့သော လွန်ကျူံမှုသည် မဖြစ်သင့်ပေ။

၆။ အမှန်သော်ကား ကမ္ဘာမြေဝယ် ရှိရှိသမျှသော သက်ရှိသတ္တဝါအပေါင်းတို့ကို *စားနပ်ရိက္ခာ ပေးသနားတော်မူရန် အလ္လာဟ် အရှင်မြတ်အပေါ်၌ တာဝန်ဖြစ်ပေသည်။* [၁] ၎င်းပြင် ထိုအရှင်မြတ်သည် ယင်းသတ္တဝါများ၏ *တာရှည်နေထိုင်ရာ ဌာနများကိုလည်းကောင်း၊ ခေတ္တနေထိုင်ရာဌာနများကိုလည်းကောင်း၊ သိရှိတော်မူပေသည်။* [၂] အလုံးစုံတို့ကား ထင်ရှားလှစွာသော(မှတ်တမ်း)တွင်(လည်း ရေးသားပြီး) ရှိနေပေသတည်း။

وَمَا مِنْ دَآبَّةٍ فِى الْأَرْضِ إِلَّا عَلَى اللَّهِ رِزْقُهَا وَيَعْلَمُ مُسْتَقَرَّهَا وَمُسْتَوْدَعَهَا ۚ كُلٌّ فِى كِتَٰبٍ مُّبِينٍ ⑥

---

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ်သည် သဗ္ဗညုတဉာဏ်တော်ရှင် ဖြစ်တော်မူသည့်အကြောင်း ပါရှိ၏။ ဤမုက္ခပါဌ်တော်တွင် ထိုသည့်အကြောင်း၏ သာဓကတရပ်ကို မိန့်ဆိုထားတော်မူသည်။

ဤကမ္ဘာအတွင်း၌ စားသောက်သွားလာ လှုပ်ရှားနေသောသတ္တဝါများသည် အသချေ်ု အသချော ရှိကုန်၏။ ထိုထိုသော သတ္တဝါအပေါင်းတို့အား လိုအပ်သည်နှင့်အမျှ လိုလေသေးမရှိ စားနပ်ရိက္ခာ ပေးတော်မူရန် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် တာဝန်ယူထားတော်မူသည်။

သက်ရှိသတ္တဝါအပေါင်းတို့အား လိုလေသေးမရှိ စားနပ်ရိက္ခာပေးတော်မူခြင်းကို ထောက်ရှုခြင်းအားဖြင့် ထိုအရှင်မြတ်၏ဉာဏ်တော်သည် အရာခပ်သိမ်းကုန်တို့ကို လွှမ်းခြုံတော်မူလျက်ရှိကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။ သို့မဟုတ်ပါမူ သတ္တဝါအပေါင်းတို့အား အသို့လျှင် ထိန်းသိမ်းစောင့်ရှောက်ရန် ဖြစ်နိုင်အံ့နည်း။

ဤအကြောင်းနှင့် ဆက်စပ်၍ ကုရ်အာန် ကျမ်းမြတ် (၆ : ၃၈။ ၆ : ၅၉။ ၂၁ : ၄၇။ ၃၁ : ၁၆) ကို ဆင်ခြင်ပါကုန်။

ဤမုက္ခပါဌ်တော်တွင် လူသားတို့အား စားနပ်ရိက္ခာနှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်အား "တဝါက္ကုလ်" မှီခိုအားထား ယုံပုံလွှဲအပ်ရန် လေးနက်စွာ တိုက်တွန်းထားတော်မူသည်။ စားနပ်ရိက္ခာရရှိရန်အတွက် လူသားတို့ ပြုလုပ်ရှာဖွေ ဆည်းပူးနေကြသော အကြောင်းတရားများသည် အမှန်မှာ အလ္လာဟ်အရှင်မြတ်ထံတော်မှ စားနပ်ရိက္ခာ ရောက်သည့်အချိန်တွင် "မုစဗ်ဗိဗုလ်အတ်စ်ဗာဗ်" ခပ်သိမ်းကုန်သော အကြောင်းတရားများကို ပြုစုစီရင်တော်မူသော အရှင်မြတ်အား မှီခိုအားထားနေပါလျှင် ဤသို့သော ရိက္ခာရှာဖွေခြင်းသည် "တဝါက္ကုလ်" နှင့် မဆန့်ကျင်ပေ။

ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ်သည် သတ္တဝါအပေါင်းတို့အား ဤသည့် အကြောင်းတရား ဖြင့်သာ ရိက္ခာပေးတော်မူသည် ဟူ၍ မှုသေပုံသေ မထင်မှတ်ရာ။ ထိုအရှင်မြတ်သည် တခါတရံ ဤသည့် အကြောင်းတရားများမှတပါး အခြားနည်းလမ်းများဖြင့်လည်း ရိက္ခာပေးတော်မူလေသည်။

(၂) "မုစ်တကရ်ရ်" "မုစ်တောင်ဒအ်" ဟူသော ပုဒ်များ၏အဖွင့်တွင် မုဖတ်စစ်ရ် အဌကထာရှင်ကြီးများသည် အဆိုအမျိုးမျိုးပြားလျက်ရှိကြပေသည်။ အိဗ်နုကဆီရ်ကျမ်းတွင် ရေးသားဖော်ပြထားသည်မှာ-

(က) ပထဝီမြေ၌ သတ္တဝါများ လှုပ်ရှားသွားလာလျက် ရှိကြကုန်၏။ ထိုလှုပ်ရှားသွားလာမှု၏ နောက်ဆုံး ဌာနသည် "မုစ်တကရ်ရ်" မည်၏။ ထိုမှပြန်လည်ရပ်တည်ရာဌာနသည် "မုစ်တောင်ဒအ်"မည်၏။ ➤➤

وَهُوَ الَّذِي خَلَقَ السَّمٰوٰتِ وَالْأَرْضَ فِي سِتَّةِ أَيَّامٍ وَّكَانَ عَرْشُهُ عَلَى الْمَاءِ لِيَبْلُوَكُمْ أَيُّكُمْ أَحْسَنُ عَمَلًا وَلَئِنْ قُلْتَ إِنَّكُمْ مَبْعُوثُونَ مِنْ بَعْدِ الْمَوْتِ لَيَقُولَنَّ الَّذِينَ كَفَرُوا إِنْ هٰذَا إِلَّا سِحْرٌ مُّبِينٌ ⑦

၇။ ၎င်းပြင် ထိုအရှင်မြတ်သည်ပင် [၁] မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ခြောက်ရက်တွင် ဖန်ဆင်းတော်မူခဲ့လေသည်။ စင်စစ်သော်ကား (ထိုမိုးကောင်းကင်များနှင့် ပထဝီမြေကို ဖန်ဆင်းတော်မမူမီက)ထိုအရှင်မြတ်၏ 'အရ်ရှ်' ပလ္လင်တော်သည် *ရေပေါ်၌* [၂] ရှိခဲ့လေသည်။ (ယင်းကဲ့သို့ မိုးကောင်းကင်များကို လည်းကောင်း၊ ပထဝီမြေကို လည်းကောင်း၊ မိုးနှင့်မြေစပ်ကြားဝယ် ရှိရှိသမျှသော သက်ရှိ သက်မဲ့တို့ကိုလည်းကောင်း၊ ဖန်ဆင်းတော်မူခြင်းကား) ထိုအရှင်မြတ်သည် အသင်တို့အနက် မည်သူသည် အကျင့်အမူအားဖြင့် အကောင်းဆုံးဖြစ်သည်ကို *စမ်းသပ်တော်မူအံ့သောငှာဖြစ်ပေသည်။* [၃]

➤➤ (ခ) ဤပစ္စက္ခဘဝတွင် သတ္တဝါများ မှီခိုရာဌာနသည် "မုစ်တကရ်ရ်" မည်၏။ သေပြီးနောက် မြုပ်နှံရာဌာနသည် "မုစ်တောင်ဒအ်"မည်၏။ ဤသည် သာဝကကြီး အီဗ်နုအဗ္ဗာစ်၏အဆိုတည်း။

(ဂ) "မုစ်တကရ်ရ်" ဟူသည် အမိ၏သားအိမ်တည်း။ "မုစ်တောင်ဒအ်"ဟူသည် အဘ၏ ကျောက်ကုန်းတည်း။ ဤသည် မုဂျာဟစ်ဒ်၏အဆိုတည်း။ (အထွာ) က ဤအဆို၏ ဆန့်ကျင်ဘက်ပြော၏။

အချို့ Philosophist များ၏ယူဆချက်အရ ဤပထဝီမြေကြီး၌ သတ္တဝါများ၏ လက်တွေ့နေထိုင်ရာဌာနသည် "မုစ်တကရ်ရ်" မည်၏။ သတ္တဝါများသည် ကာယကံမြောက် အကောင်အထည် ဖြစ်ပေါ်မလာမီ အလျှင်တည်ရှိခဲ့ရာဌာနသည် "မုစ်တောင်ဒအ်' မည်၏။

ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် သတ္တဝါအပေါင်းတို့၏ ရပ်တည်ရာဌာနများသည် ဖြစ်ရပ်များအားလုံးတို့သည် အကြွင်းမဲ့ သိတော်မူ၏။ ရပ်တည်ရာဌာန ဘဝတိုင်းတွင် လိုအပ်သည်နှင့်အမျှ ကျေးဇူးပြုတော်မူ၏။

① အထက်တွင် အလ္လာဟ်အရှင်မြတ်သည် သဗ္ဗညုတဉာဏ်တော်ရှင် ဖြစ်တော်မူသည့် အကြောင်းပါရှိ၏။ ယခု ဤမုက္ခပါဌ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူသည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

ဤမုက္ခပါဌ်တော်နှင့်အလားတူ မုက္ခပါဌ်တော်တပါးသည် ကုရ်အာန်ကျမ်းမြတ်(၇း၅၄)တွင် လာရှိခဲ့ပေပြီ။ ယင်းမုက္ခပါဌ်တော်အဖွင့်တွင် (က) မိုးများနှင့်မြေကို ဖန်ဆင်းတော်မူခြင်း၏သဘော။ (ခ) မိုးနှင့်မြေကို ခြောက်ရက်တွင် ဖန်ဆင်းတော်မူခြင်း၏သဘော။ (ဂ) 'အရ်ရှ်' ပလ္လင်တော်ထက်တွင် စံမြန်းတော်မူခြင်း၏သဘောထားကို အကျယ်ရေးသားခဲ့ပြီးဖြစ်သည်။

② အလ္လာဟ်အရှင်မြတ်သည် မိုးများနှင့်မြေကို ဖန်ဆင်းတော်မမူမီအလျှင် ရေကိုဖန်ဆင်းတော်မူ၏။ ➤➤

အမှန်သော်ကား အကယ်၍ အသင်သည် (လူများအား) ဧကန်စင်စစ် အသင်တို့သည်သေပြီး နောက် ရှင်ပြန်ထကြရမည့်သူများပင် ဖြစ်ကြသည်ဟု ပြောဆိုခဲ့ပါလျှင်(၎င်းတို့အနက်) 'ကာဖိရ်' မယုံမကြည် သွေဖည်ငြင်းပယ်သောသူတို့က ထင်ရှားလှစွာသော စုန်းပယောဂ အတတ်မျှပင် ဖြစ်သည်ဟူ၍ ပြောဆို ကြမည်မှာ ဧကန်မလွဲတည်း။

➤➤ ရေသည် နောက်နောင် ဖန်ဆင်းတော်မူအံ့သောဝတ္ထု အရာများအတွက် အသက်ရှင်ခြင်း၏ မူလဗီဇဖြစ်၏။ သက်ရှိအရာအားလုံးကို ရေဖြင့် ဖန်ဆင်းတော်မူသည့်အကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ်(၂၁:၃၀) တွင် 'ငါအရှင်မြတ်သည် သက်ရှိအရာအားလုံးတို့ကို ရေဖြင့် ပြုလုပ်ဖန်ဆင်းတော်မူသည်' ဟု မိန့်ဆိုထားတော်မူ သည်။ မိုးများနှင့်မြေ မရှိသေးသည့်အချိန်တွင် ထိုအရှင်မြတ်၏ ပလ္လင်တော်သည် ယခု မိုးများ ကောင်းကင်၌ တည်ရှိနေဘိသကဲ့သို့ ရေပေါ်၌တည်ရှိနေပေသည်။ ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် သက်ရှိသက်မဲ့ အားလုံးတို့ကို မူလဗီဇ အသက်ရှင်စေမူသည် ပလ္လင်တော်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ တန်ခိုး အာဏာ စိုးမိုးအုပ်ချုပ်မှုအောက်တွင် လုံးဝရှိနေသည်မှာ ထင်ရှားပေသည်။

③ ဤကမ္ဘာကြီးကို ဖန်ဆင်းထားတော်မူခြင်း၏ အဓိကရည်ရွယ်ချက်မှာ လူသားတို့အား နေရာချထားပေး၍ ၎င်းတို့အား စမ်းသပ်တော်မူရန်ပင် ဖြစ်သည်။ ဤအံ့ဖွယ် ထူးထွေဆန်းပြားလှသည့် ကမ္ဘာတန်ဆာပလာများကို ကြည့်ရှုဆင်ခြင်၍ မည်သူမည်ဝါတို့သည် မိမိတို့၏အရှင်သခင်အား သိကြသည်။ မသိကြသည်၊ ကမ္ဘာကြီး၏ အမျိုးမျိုးသော ကျေးဇူးများကိုခံစား၍ မည်သူမည်ဝါတို့သည် ကျေးဇူးသိကြသည်၊ မသိကြသည်၊ ကျေးဇူး ဆပ်ကြသည်၊ မဆပ်ကြသည်၊ သဘာဝအလျောက် ကျရောက်လာသည့် တာဝန်များကို မည်သူမည်ဝါတို့သည် ကျေပွန်ကြသည်၊ မကျေပွန်ကြသည် ကျွန်ပီပီ တာဝန်သိသိ သစ္စာရှိရှိ စိတ်ထားဖြူဖြူနှင့် မည်သူမည်ဝါတို့သည် ကောင်းမွန်မြင့်မြတ်သော အပြုအမူများကို ကျင့်သုံး၍ မိမိတို့၏အရှင်သခင်အား ကိုးကွယ်ကြသည်ကို စမ်းသပ်တော် မူရန်ပင်ဖြစ်သည်။

<u>**မှတ်ချက်**</u>။ ဤသည့်သဘောကို ကုရ်အာန် (၆:၁၆၆)တွင်လည်း မိန့်ဆိုထားတော်မူသည်။ သက်ဆိုင်ရာ အဖွင့်ကို ပြန်လည်ရှုပါကုန်။

အထက်တွင် ပါရှိခဲ့သည့်အတိုင်း ဤကမ္ဘာသည် စမ်းသပ်ရာဌာနဖြစ်ပေရာ၊ ယင်းသည့်နောက်ပိုင်းတွင် စမ်းသပ်ရာ၌ အောင်မြင်သူတို့အား ဆုလဒ်ချီးမြှင့်ခြင်းနှင့် မအောင်မြင်သူတို့အား ပြစ်ဒဏ်ပေးခြင်းသည် မုချရှိရပေမည်။ ထို့အတွက်ကြောင့် ဤတွင်သေပြီး နောက်ပြန်လည်ရှင်ထရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

မက္ကာမြို့သား ကာဖိရ်များသည် သေပြီးနောက် ရှင်ပြန်ထ၍ မိမိတို့ ကောင်းကျိုး ဆိုးကျိုးများကို ခံစံကြရမည်ဟူသောအချက်ကို မယုံကြည်ကြပေ။ ထို့အတွက် ၎င်းတို့သည် ကုရ်အာန်ကျမ်းမြတ်တွင်သော် လည်းကောင်း၊ တမန်တော်မြတ်၏ နှုတ်မှသော်လည်းကောင်း၊ ဤသည့်အကြောင်းကို ကြားရသောအခါ ဤသည် စုန်းပယောဂမျှသာ ဖြစ်သည်ဟုပြောဆိုကြလေသည်။ ယင်းသို့ ပြောဆိုသော ကာဖိရ်များနှင့် ပတ်သက်၍ ရှေ့လာလတ္တံ့သော မုက္ခပါဌ်တော်တွင် မိန့်ဆိုထားတော်မူသည်။ (ဆက်၍ကြည့်ပါ)။

وَلَئِنْ أَخَّرْنَا عَنْهُمُ الْعَذَابَ إِلَىٰ أُمَّةٍ مَّعْدُودَةٍ لَّيَقُولُنَّ مَا يَحْبِسُهُ ۗ أَلَا يَوْمَ يَأْتِيهِمْ لَيْسَ مَصْرُوفًا عَنْهُمْ وَحَاقَ بِهِم مَّا كَانُوا بِهِ يَسْتَهْزِئُونَ ٨

၈။ ၎င်းပြင် အကယ်၍ ငါ အရှင်မြတ်သည် ပြစ်ဒဏ်ကို ၎င်းတို့အပေါ်မှ ရေတွက်(သတ်မှတ်)ထားပြီးဖြစ်သော *အချိန်ကာလတိုင်အောင်*[၁] ရွှေ့ဆိုင်း၍ထားတော်မူခဲ့ပါလျှင် ၎င်းတို့သည် ထိုပြစ်ဒဏ်ကို မည်သည့်အရာက ချုပ်၍ထားဘိသနည်းဟူ၍ မုချ ပြောဆိုကြလေသည်။ သတိပြုကြလေကုန်၊ ထိုပြစ်ဒဏ်သည် ၎င်းတို့ထံ ရောက်ရှိလာမည့်နေ့တွင် ၎င်းတို့အပေါ်မှ လွှဲဖယ်သွားမည်မဟုတ်ပေ။ ထို့ပြင် ၎င်းတို့ ပြက်ချော်ပြောင်လှောင်လျက် ရှိကြကုန်သော ပြစ်ဒဏ်သည် ၎င်းတို့အား ဝိုင်းဝန်း၍ ထားရှိပေမည်။

وَلَئِنْ أَذَقْنَا الْإِنسَانَ مِنَّا رَحْمَةً ثُمَّ نَزَعْنَاهَا مِنْهُ ۚ إِنَّهُ لَيَئُوسٌ كَفُورٌ ٩

၉။ စင်စစ်သော်ကား အကယ်၍ ငါအရှင်မြတ်သည်မနုဿလူသားများကို မိမိအထံတော်မှ ကရုဏာတော်၏ရသကို မြည်းစမ်းစေတော်မူပြီးနောက် ငါ အရှင်မြတ်သည် ယင်းမနုဿလူသားထံမှ ထိုကရုဏာတော်ကို ရုပ်သိမ်းတော်မူခဲ့ပါလျှင်၊ ဧကန်မလွဲ ထို မနုဿလူသားသည် မျှော်လင့်ချက်ကင်းမဲ့သူများ၊ လွန်စွာ ကျေးဇူးတော်ကိုမသိတတ်သူများ ဖြစ်သွားတတ်ကြပေသတည်း။[၂]

---

(၁) ကုရ်အာန်ကျမ်းမြတ်တွင် 'အွန်မ္မတ်' ဟူသောပုဒ်ကို အနက်အဓိပ္ပာယ်အမျိုးမျိုး၌ သုံးနှုန်းထားတော်မူသည်။ (၁) အချိန်ပိုင်း။ ကြည့်-ကုရ်အာန် (၁၁း၁၈)။ (၂) ရှေ့ဆောင်ရှေ့ရပ်၊ ကြည့်-ကုရ်အာန် (၁၆း ၁၂၀)။ (၃) ဘာသာသာသနာ၊ ကြည့်-ကုရ်အာန် (၄၃း၂၂)။ (၄) အသင်းအဖွဲ့၊ အစုအရုံး၊ ကြည့်-ကုရ်အာန်(၂၈း၂၃။ ၁၆း၃၆) (၅) ကာဖိရ်၊ မွတ်စ်လင်မ်မရွေး တမန်တော်များ ပွင့်ခဲ့သည့်လူမျိုး၊ ကြည့်-ကုရ်အာန် (၁၀း၄၇)။ (၆) တမန်တော်များ၏ အမိန့်ဩဝါဒများကို လိုက်နာသည့် တပည့်နောက်လိုက်များ၊ ကြည့်-ကုရ်အာန် (၃း၁၀၉)။ (၇) လူတစ်စု၊ ကြည့်-ကုရ်အာန် (၇း၁၅၉။ ၃း၁၁၂)။ အီဗ်နုကဆီရ်၊

(၂) လူသည် သဘောထားကြောင်၏။ အမြင်ကျဉ်း၏။ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ကျေးဇူးတော်ဖြင့် လူအား ကောင်းမွန်အေးချမ်းသာယာစွာ ထားရှိတော်မူပြီးနောက် ဒုက္ခသက်ရောက်စေတော်မူလျှင် လူသည် ယခင် ကျေးဇူးတော်များကို မေ့သွားတတ်၏။ နောင်အဖို့လည်း မျှော်လင့်ချက်မထားရှိတော့ပေ။ ယခင်ခံစားခဲ့ရသော ကျေးဇူးတော်များကို မေ့တတ်ခြင်းနှင့် နောင်အဖို့ မျှော်လင့်ချက် ကင်းမဲ့တတ်ခြင်းသည် လူ၏ မူလသဘောထားပင်။ တဖန် ဒုက္ခခံစားရပြီးနောက်တွင် အကယ်၍အလ္လာဟ်အရှင်မြတ်သည် ကောင်းမွန်အေးချမ်းသာယာစွာ ➤➤

وَلَئِنْ أَذَقْنَٰهُ نَعْمَآءَ بَعْدَ ضَرَّآءَ مَسَّتْهُ لَيَقُولَنَّ ذَهَبَ ٱلسَّيِّـَٔاتُ عَنِّىٓ ۚ إِنَّهُۥ لَفَرِحٌ فَخُورٌ ١٠

၁၀။ ထိုနည်းတူစွာ အကယ်၍ ငါအရှင်မြတ်သည် ထိုမနုဿလူသားများအား ၎င်းတို့၌ ဆိုက်ရောက်ခဲ့သော ဘေးဒုက္ခ၏နောက်တွင် ကျေးဇူးတော်၏ အရသာကို မြည်းစမ်းစေတော်မူခဲ့ပါလျှင်၊ ဧကန်မလွဲ ၎င်းတို့သည် 'ကျွန်ုပ်တို့ ဘေးဒုက္ခများ ပပျောက်၍ သွားလေပြီ' ဟု ပြောဆိုလေ့ရှိကြကုန်၏။ ဧကန်စင်စစ် ယင်းမနုဿလူသားတို့သည် ဘဝင်ကြွသူများ ဝါကြွားပလွှားသူများပင် ဖြစ်ကြကုန်သတည်း။

إِلَّا ٱلَّذِينَ صَبَرُوا۟ وَعَمِلُوا۟ ٱلصَّٰلِحَٰتِ أُو۟لَٰٓئِكَ لَهُم مَّغْفِرَةٌ وَأَجْرٌ كَبِيرٌ ١١

၁၁။ သို့ရာတွင် အကြင်သူများသည် သည်းခံခဲ့ကြလေသည်။ ထို့ပြင် ၎င်းတို့သည် ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူ ဆောက်တည်ခဲ့ကြလေသည်။ ဤသူများပင် ၎င်းတို့အဖို့ (ပြစ်မှုများမှ) လွတ်ငြိမ်း ချမ်းသာခွင့်နှင့် ကြီးကျယ်လှစွာသော အကျိုးဆုလဒ်သည် ရှိချေမည်။

فَلَعَلَّكَ تَارِكٌۢ بَعْضَ مَا يُوحَىٰٓ إِلَيْكَ وَضَآئِقٌۢ بِهِۦ

၁၂။ သို့ဖြစ်ပေရာ အသင်သည် မိမိထံတော်သို့ ပို့တော်မူခြင်းခံရသော အမိန့်တော်များအနက် အချို့ အမိန့်တော်များကို စွန့်လွှတ်ပါမည်လော။

---

➤➤ ထားရှိတော်မူလျှင် လူသည် စည်းစိမ်ယစ်မူး၍ ယခုငါ၏ဒုက္ခများသည် ကင်းဝေးသွားချေပြီ၊ ဤသည့်ဒုက္ခများသည် ငါတစ်သက်တာ ပြန်လည်သက်ရောက်တော့မည် မဟုတ်ဟူ၍ ထင်မှတ်ကာ ဘဝင်မြင့်တတ်၏။ မောက်မာတတ်၏၊ ပလွှားဝါကြွားတတ်၏။ အမှန်မှာ ယင်းသို့ဖြစ်လျှင် လူသည်မိမိ ယခင်ခံစားခဲ့ရသော ဒုက္ခများကို သတိရကာ အလ္လာဟ်အရှင်မြတ်အားသာ ကျေးဇူးတင်အပ်ပေသည်။ ဤသည် ယေဘုယျအားဖြင့် လူသားတို့၏ စိတ်နေသဘောထားပင် ဖြစ်သည်။

သို့ရာတွင် အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုးသော မုအ်မင်န်တို့မူကား ယင်းသို့မဟုတ်ကြပေ။ ၎င်းတို့သည် ဒုက္ခနှင့်တွေ့ကြုံကြရလျှင် သည်းခံကြ၏၊ ကြံ့ခိုင်ကြ၏။ သုခချမ်းသာနှင့် တွေ့ကြုံကြလျှင် အလ္လာဟ်အရှင်မြတ်အား ကျေးဇူးတင်ကြ၏။ ကျေးဇူးတင်သည့်အနေဖြင့် ကောင်းမှုကုသိုလ်ရေးများကို လုံ့လဝီရိယကြီးစွာဖြင့် ပိုမို ဆောက်တည်ကြ၏။ ဤသို့ သစ္စာတော်ကို စောင့်သိ ရှိသေကြသော၊ ပါရမီရှင် မုအ်မင်န် များသာလျှင် အလ္လာဟ် အရှင်မြတ်၏ ကြီးမားစွာသော ဆုလဒ်တော်များကို ခံစံထိုက်ကြပေသတည်း။

صَدۡرُكَ أَن يَقُولُواْ لَوۡلَآ أُنزِلَ عَلَيۡهِ كَنزٌ أَوۡ جَآءَ مَعَهُۥ مَلَكٌۚ إِنَّمَآ أَنتَ نَذِيرٞۚ وَٱللَّهُ عَلَىٰ كُلِّ شَيۡءٖ وَكِيلٌ ١٢

၎င်းပြင် ထိုသူများက 'ယင်း(တမန်တော်)၏ အပေါ်၌ ရွှေငွေဘဏ္ဍာသည် အဘယ်ကြောင့် ချပေးခြင်း မခံရလေသနည်း။ သို့တည်းမဟုတ် ယင်း(တမန်တော်)နှင့်အတူ ကောင်းကင်တမန် တစ်ပါးပါးသည် အဘယ်ကြောင့်မလာပါသနည်း၊' ဟုပြောဆိုကြသောကြောင့် အသင်၏စိတ်သည် ကျဉ်းကြပ်လျက်ရှိနေပါသလော။ အသင်ကား သတိပေးသူမျှသာဖြစ်ချေသည်။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သာလျှင်အရာခပ်သိမ်းတို့နှင့်စပ်လျဉ်း၍ တာဝန်ယူ ထိန်းသိမ်းတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။ ၁

(၁) မက္ကာမြို့ရှိ မုရှ်ရစ်က်များသည် မိမိတို့၏ 'ရှုရစ်က်' ယုဉ်တွဲကိုးကွယ်မှု၊ ရုပ်တုကိုးကွယ်မှုတို့၏ မှားယွင်းကြောင်းကို တမန်တော်မြတ်ထံမှ ကြားရသည့်အခါ ဒေါသဖြစ်ကြ၏။ ၎င်းတို့၏ ရယ်ဖွယ်ဖြစ်သော ထုံးတမ်းစဉ်လာများနှင့် စပ်လျဉ်း၍ ၎င်းတို့၏ မိုက်မဲမှုများကို ဟုတ်တိုင်းမှန်ရာ ကြားသိကြရသောအခါ ပို၍ပင် အမျက်ထွက်ကြ၏။ ထိုအခါ မုရှ်ရစ်က်များသည် တမန်တော်မြတ်အား ၎င်းတို့၏ ကိုးကွယ်ရာများနှင့် စပ်လျဉ်း၍ ဟောကြားရာတွင် အနည်းငယ်လျှော့စေရန်နှင့် လျစ်လျူပြုရန် ကြိုးစားကြ၏။ ယင်းသို့ ကြိုးစား၍ မအောင်မြင်ကြသောအခါ၌ ယင်းမုရှ်ရစ်က်တို့သည် တမန်တော်မြတ်အား စိတ်ဆင်းရဲစေရန်အတွက် တမင် သက်သက် အဓိပ္ပာယ်မရှိသော တောင်းဆိုချက်များကို တောင်းဆိုကြ၏။ ဥပမာ-၎င်းတို့က တမန်တော်မြတ်အား 'အကယ်၍ အသင်သည် တမန်တော်မှန်ကန်ပါလျှင် အသင့်၌ အလ္လာဟ်အရှင်မြတ်ထံတော်မှ အလွန်ကြီးကျယ် သော ဘဏ္ဍာတော်တိုက်တစ်ခု ရှိသင့်ပေသည်။ သို့တည်းမဟုတ် အသင့်အား ထောက်ခံပြောဆိုရန် အသင်နှင့် အတူ ကောင်းကင်တမန် တစ်ပါး ရှိသင့်ပေသည်။ အသင့်၌ မိမိ၏ တရားများကို ယုံကြည် စေရန်အတွက် ရုပ်၊ နာမ်ဆိုင်ရာ တစ်စုံတစ်ရာ အစွမ်းသတ္တိ မရှိပေရာ အကျွန်ုပ်တို့သည် အသင့်အား အသို့ ယုံကြည်နိုင်ကြ အံ့နည်း' ဟု ပြောဆိုကြ၏။

တမန်တော်မြတ်သည် ယင်းသို့သော အဓိပ္ပာယ်မဲ့သည့် ဒွိဟသံသယများနှင့် တောင်းဆိုချက်များကို ကြားသိရသောအခါ အလွန်တရာမျှ စိတ်ဆင်းရဲတော်မူလေသည်။ တမန်တော်မြတ်သည် အလွန်တရာမျှ သနားကြင်နာတော်မူ၍ မိမိ၏အမျိုးသားများ၏ တရားရရှိရေးကို အတိုင်းမသိ လိုလားတော်မူပေရာ တစ်ခါတစ်ရံ တမန်တော်မြတ်၏ စိတ်နှလုံးတွင် 'မုရှ်ရစ်က်တို့၏ ကိုးကွယ်ရာများနှင့် စပ်လျဉ်း၍ အမိန့်တော်များတွင် အနည်းငယ် နူးညံ့သင့်ပေသည်။ သို့ဖြစ်လျှင် တရားသည် ပိုမို၍ထိရောက်ပေမည်။ အကျိုးလည်း သက်ရောက်ပေမည်။ မုရှ်ရစ်က်တို့၏ကိုးကွယ်ရာများကို တိုက်ဖျက်ပစ်ရမည်မှာ အမှန်မုချဖြစ်သော်လည်း ယခုလောလောဆယ် အချိန်တွင် အခြေအနေအရ ထောက်ထားညှာတာသောအားဖြင့် အနည်းငယ် လျှော့သင့်ပေသည်။ သို့တည်းမဟုတ် မုရှ်ရစ်က်တို့၏ တောင်းဆိုချက်များအနက် အချို့တဝက်ကို ဖြည့်စွမ်းပေးသင့်ပေသည်။ ယင်းသို့ ပြုလုပ်ပေးလျှင် မုရှ်ရစ်က်များသည်လည်း မွတ်စ်လင်မ်များ ဖြစ်လာနိုင်ကြပေသည်။ စသည်ဖြင့် အတွေးအခေါ်များသည် ➤➤

أَمْ يَقُولُونَ افْتَرَاهُ قُلْ فَأْتُوا بِعَشْرِ سُوَرٍ مِّثْلِهِ مُفْتَرَيَاتٍ وَادْعُوا مَنِ اسْتَطَعْتُم مِّن دُونِ اللَّهِ إِن كُنتُمْ صَادِقِينَ ⑬

၁၃။ ၎င်းတို့က ယင်း(နဗီတမန်တော်)သည် ထို (ကုရ်အာန်)ကို လီဆယ်ဖန်တီးခဲ့သည်ဟု ပြောဆိုကြလေသလော။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား) ‘သို့ဖြစ်လျှင်အသင်တို့သည်ထိုကုရ်အာန်ကျမ်းလာ’ ‘စူရဟ်’ ကဏ္ဍကဲ့သို့ လီဆယ်ဖန်တီးထားသော စူရဟ်ကဏ္ဍဆယ်ခုကိုပင် ယူဆောင်ခဲ့ကြလေကုန်။

---

➤➤ ဖြစ်ပေါ်လာနိုင်ဖွယ်အတွေးအခေါ်တည်း။

အသို့ပင်ဖြစ်စေကာမူ တမန်တော်မြတ် ရင်ဆိုင်တွေ့ကြုံနေတော်မူရသော အချိန်ကား အန္တရာယ်များပြားလှ၏၊ အဘယ်ကြောင့်ဆိုသော် ထိုခေတ်ထိုအခါတွင် ကမ္ဘာ့အဝန်း၌ မိစ္ဆာဝါဒသည် လွှမ်းမိုးလျက်ရှိခဲ့၏၊ တမန်တော်မြတ်တပါးတည်းသာလျှင် ကမ္ဘာ့ မိစ္ဆာ အမှောင်ထုကို ဖြိုခွင်းနေတော်မူခဲ့၏၊ တမန်တော်မြတ်၏ နှုတ်တော်မှထွက်သော တရားသံများသည် မိစ္ဆာဒိဋ္ဌိတို့၏ ခံတပ်များတွင် တုန်လှုပ်ချောက်ချားစေခဲ့၏၊

တမန်တော်မြတ်သည် ရန်သူတို့၏အတွင်းတွင် ရောက်ရှိနေတော်မူခဲ့၏၊ အချို့က တမန်တော်မြတ်အား မုသာဝါဒီဟု စွပ်စွဲ၏။ တချို့က ကဲ့ရဲ့ပြစ်တင်၏၊ တချို့က ပြောင်လှောင်ပြက်ချော်၏။ ထိုသို့သော ပတ်ဝန်းကျင်၌ပင် တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းကိုသာ မှီခိုအားထား၍ မတုန်မလှုပ် တည့်မတ်စွာ ရပ်တည်ကာ ရန်သူအားလုံးတို့အား တစ်ပါးတည်း ရင်ဆိုင်တော်မူခဲ့၏။ ဤသည့်အချက်ကို ထောက်ရှုဆင်ခြင်ပါက တမန်တော်မြတ်၏ ရဲစွမ်းသတ္တိရှိမှု၊ စိတ်ဓါတ်ခိုင်မြဲမှုကို မချီးကျူးဘဲမနေနိုင်ပေ။

တမန်တော်မြတ်သည် မှုရင်းစေတနာအလျောက် ဆင်းရဲတော်မူသော်လည်း အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များကို ကြားနာရသည့်အခါ စိတ်အားထက်သန်၍ မိစ္ဆာဝါဒီတို့အား တွန်းလှန် ဖြိုခွင်းရန် အသင့် ဖြစ်ရှိသွားတော်မူ၏။ ဤသည်အကြောင်းနှင့်စပ်လျဉ်း၍ ဤအာယတ်တော်များ ကျရောက်လာခဲ့ပေသည်။

ယင်းအာယာက်တော်များ၏အချုပ်သဘောမှာ တမန်တော်မြတ်သည် အဆိုပါမုရှ်ရစ်က်တို့၏ အဓိပ္ပါယ်ကင်းမဲ့သည့် တောင်းဆိုချက်များအတွက် စိတ်ဆင်းရဲရန်လည်းမလို၊ ၎င်းတို့အား ထောက်ထားညှာတာရန်လည်းမလို၊ တမန်တော်မြတ်သည် စိုးရိမ်ကြောင့်ကြမှု ကင်းမဲ့စွာဖြင့် ဟောကြားရန်အတွက် မိမိထံသို့ ရောက်ရှိလာသော တရားဒေသနာတော်များအနက် အချို့ကို မုရှ်ရစ်က်တို့အား ထောက်ထားသောအားဖြင့် စွန့်လွှတ်ချန်ထားရန် အလျှင်းမဖြစ်နိုင်ပေ။ သို့မဖြစ်နိုင်လျှင် တမန်တော်မြတ်အဖို့ စိတ်ဆင်းရဲရန် အကြောင်းလည်းမရှိ၊ တမန်တော်မြတ်၏တာဝန်မှာ အကျိုး၊ အကြောင်း၊ အဆိုး၊ အကောင်း၊ အသိပေးရန်သာဖြစ်သည်။

မုရှ်ရစ်က်တို့၏ တရားရရှိရေးသည် တမန်တော်မြတ်၏တာဝန်မဟုတ်၊ အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့နှင့်စပ်လျဉ်း၍ တာဝန်ယူတော်မူသော အရှင်ဖြစ်တော်မူပေရာ ယင်းမုရှ်ရစ်က်တို့၏ ကိစ္စကိုလည်း ထိုအရှင်မြတ်အားသာလျှင် လွှဲအပ်ပြီး လုံလဝီရိယကြီးစွာဖြင့် ဟောကြားရန်ရှိသည့် တရားဒေသနာတော်များကို တာဝန်သိသိသစ္စာရှိရှိ၊ စ၊ လယ်၊ ဆုံး၊ သုံးပါးလုံးကို ဟောကြားရန်သာ ဖြစ်သတည်း။

ငင်းပြင် အကယ်၍အသင်တို့သည် သစ္စာဝါဒီ မှန်ကန်စွာပြောဆိုသူများ ဖြစ်ကြပါလျှင် အလ္လာဟ် အရှင်မြတ်မှတစ်ပါး မိမိတို့ တတ်စွမ်းနိုင်သောသူများ ကိုလည်း အသင်တို့ ခေါ်ခဲ့ကြလေကုန်' ဟု ပြော ကြားပါလေ။ ၁

၁၄။ တဖန် အကယ်၍ ငင်းတို့သည် အသင်တို့ (ပြောဆိုကြသည်)ကို ဖြေဆိုခြင်း မပြုခဲ့ကြပါလျှင် (ဤကုရ်အာန်ကျမ်းတော်မြတ်သည်) အလ္လာဟ်အရှင် မြတ်၏ အသိပညာဖြင့် ချပေးသနားတော် မူခြင်း ခံခဲ့ရသည်သာလျှင် ဖြစ်ကြောင်းကိုလည်းကောင်း၊ ထိုအရှင်မြတ်မှတစ်ပါး ခဝပ်ကိုးကွယ်ရာအရှင်ဟူ၍ အလျှင်း မရှိကြောင်းကိုလည်းကောင်း၊ အသင်တို့ ကောင်းစွာ ယုံကြည်ကြလေကုန်။ သို့ဖြစ်ပေရာ ယခု သော်လည်းအသင်တို့သည် 'မွတ်စ်လင်မ်' အမိန့်တော် ကို လိုက်နာသောသူများ ဖြစ်ကြပြီလော။

فَإِلَّمْ يَسْتَجِيبُوا لَكُمْ فَاعْلَمُوا أَنَّمَا أُنْزِلَ بِعِلْمِ اللَّهِ وَأَنْ لَا إِلَٰهَ إِلَّا هُوَ فَهَلْ أَنْتُمْ مُسْلِمُونَ ﴿١٤﴾

---

(၁) အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား အကြီးဆုံးတန်ခိုးပြဋ္ဌိဟာအဖြစ် ကုရ်အာန်ကျမ်းမြတ်ကို ချီးမြှင့်ထားတော်မူ၏၊ ယင်းသည့် ကုရ်အာန်ကျမ်းမြတ်သည် ထိုအရဗ်မုရှ်ရစ်ကတို့၏ ရှေ့မှောက်တွင် အထင်အရှား ရှိနေချေပြီ။ ငင်းတို့သည် ကုရ်အာန်ကျမ်းမြတ်ကို နာခံကြရန်သာရှိပေသည်။ သို့ရာတွင် မနာခံကြပေ၊ မနာခံကြသည်သာမက ကုရ်အာန်ကျမ်းမြတ်သည် တမန်တော်မြတ် (မပြောကောင်းမဆိုကောင်း) လိမ်လည် ဖန်တီးထားသော ကျမ်းဖြစ်သည်ဟူ၍ပင် ဆိုကြ၏။ ယင်းသို့ပြောဆိုခြင်းနှင့်စပ်လျဉ်း၍ ဤအာယတ်တော်များတွင် ဖြေကြားထားတော်မူသည်။

အလိုသဘောမှာ အို-အရဗ်မုရှ်ရစ်ကအပေါင်းတို့ အသင်တို့သည်လည်း အရဗ်အမျိုးသားများ ဖြစ်ကြပေသည်။ အသင်တို့လည်း မိမိတို့ကိုယ်ကို စာပေအရာတွင် ပါရဂူများဟု ဆိုကြပေသည်။ သို့ဖြစ်လျှင် အသင်တို့အားလုံး စုပေါင်း၍ ကုရ်အာန်ကဲ့သို့ ကဏ္ဍ(၁၀)ခုမျှပင် ပြုလုပ်ကြကုန်၊ သို့ပြုလုပ်ရာတွင်လည်း အကူအညီ အထောက်အပံ့ ရရှိနိုင်ရန်အတွက် အလ္လာဟ်အရှင်မြတ်မှ တစ်ပါး မိမိတို့၏ကိုးကွယ်ရာများနှင့် ကမ္ဘာ့အဝန်းကိုခေါ်ယူကြကုန်။

ယင်းသို့ကမ္ဘာ့အဝှန်း၏ အကူအညီယူပြီးနောက်သော်မှလည်း မပြုလုပ်နိုင်ကြသော် (ဘယ်သောအခါ၌ မျှလည်း အလျှင်း ပြုလုပ်နိုင်ကြမည် မဟုတ်ပေ။) သို့ဖြစ်လျှင် ဤကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ် အရှင်မြတ်၏ အာယတ်တော်ဖြစ်သည်ဟူ၍ မှတ်ယူရန်သာ ရှိပေသည်။ ထိုအရှင်မြတ်သည် ➤➤

مَنْ كَانَ يُرِيْدُ الْحَيٰوةَ الدُّنْيَا وَزِيْنَتَهَا نُوَفِّ اِلَيْهِمْ اَعْمَالَهُمْ فِيْهَا وَهُمْ فِيْهَا لَا يُبْخَسُوْنَ ⑮

၁၅။ မည်သူမဆို လောကီဘဝကိုလည်းကောင်း၊ ယင်းလောကီဘဝ၏ (ပကာသနဖြစ်သော) လှပတင့်တယ်မှုကိုလည်းကောင်း၊ ရည်စူးပါလျှင် ငါအရှင်မြတ်သည် ထိုကဲ့သို့သောသူတို့အား ၎င်းတို့၏ကျင့်မှုဆောင်ရွက်ချက်များ၏(အကျိုး)ကို *ဤလောကီဘဝ၌ပင် အပြည့်ပေးတော်မူလေသည်။* [၁] ထို့ပြင် ၎င်းတို့သည် ဤလောကီဘဝတွင် (အနည်းငယ်မျှပင်) ယုတ်လျော့စေခြင်းကို ခံကြရသည်မရှိချေ။

---

➤➤ ကုရ်အာန်ကျမ်းမြတ်ကို မိမိ၏ဉာဏ်တော်အနန္တဖြင့် တမန်တော်မြတ်ထံသို့ ထုတ်ပြန်ချမှတ်တော်မူခဲ့၏။ အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များ၌ အလားတူမရှိနိုင်လျှင် ထိုအရှင်မြတ်၏ အခြားသော ဂုဏ်တော်များ၌လည်း ဂုဏ်ရည်တူ၊ အလားတူ အသို့လျှင်ရှိနိုင်အံ့နည်း၊ ဤသို့ ထင်ရှားလှသော သက်သေသဓကများကို အထင်အရှား တွေ့မြင်နေကြရပြီးနောက်တွင် မွတ်စ်လင်မ်ဖြစ်ကြရန်သာ ရှိတော့ပေသည်၊ စောင့်ဆိုင်းရန်အကြောင်း အလျှင်း မရှိတောပေ။

**<u>မှတ်ချက်။</u>**

ဤသည့်အကြောင်းကုရ်အာန် (၁၀:၃၇-၃၈)တွင်လည်း ရေးသားခဲ့ပေပြီ။ အစပထမတွင် အရဗ်မုရှ်ရစ်က်တို့အား ကုရ်အာန် တစ်စောင်လုံးနှင့်ယှဉ်ပြိုင်ရန် ကြေညာထားတော်မူ၏။ ကြည့်-ကုရ်အာန် (၁၇:၈၈)။ ထိုနောက်တွင် ဤကဏ္ဍတွင် လာရှိသည့်အတိုင်း ကုရ်အာန်ကဲ့သို့ ကဏ္ဍ(၁၀)ခု ပြုလုပ်ရန် ကြေညာတော်မူခဲ့၏။ ထို့နောက်တစ်ဖန် ကုရ်အာန်ကဲ့သို့ ကဏ္ဍတစ်ခုပင်ပြုလုပ်ရန် ကြေညာတော်မူခဲ့၏။ ကြည့်-ကုရ်အာန် (၂:၂၃။ ၁၀:၃၈)။ ယင်းသို့ အဆင့်ဆင့် ကြေညာတော် မူထားသော်လည်း မည်သူ တစ်ဦးတစ်ယောက်မျှ ကုရ်အာန်ကျမ်းမြတ်ကဲ့သို့ ကဏ္ဍ တစ်ခုမျှပင် မပြုလုပ် နိုင်ခဲ့ကြပေ။ ဘယ်သော အခါမျှလည်း ပြုလုပ်နိုင်မည် မဟုတ်ပေ။

⓵ ဤမျှထင်ရှားသော သက်သေသာဓကရှိပါလျက် အကြင်သူတစ်ဦးသည် ကုရ်အာန်ကို မယုံကြည်ဘဲ ကုရ်အာန်၏ အဆုံးအမများကို မလိုက်နာမကျင့်သုံးဘဲ ဤလောကီဘဝ၏ ခေတ္တခဏ ယာယီမျှဖြစ်သည့် စည်းစိမ်နှင့် သခ်ါရဖြစ်သည့် ဂုဏ်ပကာသနများကိုသာ အဓိကပန်းတိုင်ဟုယူဆကာ လောကီရေးတွင် နစ်မွန်းနေအံ့၊ အကယ်တန္တ အမြင်အားဖြင့် ကောင်းမှုတစ်ခုပြုအံ့၊ ဥပမာ-အလှူဒါနပြုအံ့၊ ထိုအလှူဒါနပြုခြင်းအားဖြင့် နောင်တမလွန်ဘဝ၏ ကုသိုလ်အကျိုးနှင့် အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှုကို ရည်စူးသည်မဟုတ်၊ လောကီအကျိုးကိုသာ ရည်စူးအံ့၊ ထိုသို့သော သူများသည် ယဟူဒီဖြစ်စေ၊ ခရစ်ယာန်ဖြစ်စေ၊ မုရှ်ရစ်က်ဖြစ်စေ၊ မုနာဖစ်က်ပင် ဖြစ်စေ၊ သို့တည်းမဟုတ် လောကီရေးကိုသာ တပ်မက်မောသော ပြစ်မှားသော မွတ်စ်လင်မ်ပင် ဖြစ်စေ၊ ၎င်းတို့နှင့်ပက်သက်၍ ဤအာယတ်တော်တွင် မိန့်ကြားထားတော်မူသည်မှာ အလ္လာဟ်အရှင်မြတ်သည် အလိုတော်ရှိပါက ၎င်းတို့၏အပြုအမူများ၏ အကျိုးကို ဤပစ္စက္ခဘဝ၌ပင် အပြည့်အစုံ ပေးပစ်တော်မူမည် ဖြစ်သည်။



أُولَٰئِكَ الَّذِينَ لَيْسَ لَهُمْ فِي الْآخِرَةِ إِلَّا النَّارُ ۖ وَحَبِطَ مَا صَنَعُوا فِيهَا وَبَاطِلٌ مَّا كَانُوا يَعْمَلُونَ ﴿١٦﴾

၁၆။ ဤသူများသည် အကြင် သူများပင်တည်း။ ထိုသူတို့အဖို့ နောင်တမလွန်ဘဝတွင် ငရဲမီးမှအပ အခြား တစ်စုံတစ်ရာမျှပင် (အကျိုးခံစားခွင့်) ရှိလိမ့်မည်မဟုတ်ပေ။ ထို့ပြင် (၎င်းတို့ပြုလုပ်သမျှတို့သည် အချည်းနှီးပင်ဖြစ်သည့်ပြင် ၎င်းတို့ကျင့်မှုဆောင်ရွက်ခဲ့သမျှ တို့သည်လည်း နောင် တမလွန်ဘဝတွင် အကျိုးမဲ့ ဖြစ်လိမ့်မည်သာတည်း။)

أَفَمَن كَانَ عَلَىٰ بَيِّنَةٍ مِّن رَّبِّهِ وَيَتْلُوهُ شَاهِدٌ مِّنْهُ وَمِن قَبْلِهِ كِتَابُ مُوسَىٰ إِمَامًا

၁၇။ သို့ဖြစ်ပေရာ အကြင်သူတို့သည် မိမိတို့၏ အရှင်မြတ်ထံတော်မှ (ရောက်ရှိလာသော) ထင်ရှားစွာသော *သက်သေခံအပေါ်၌ တည်ရှိကြကုန်၏။* ၁ ထို့ပြင် ထိုသူ၏နောက်မှ သက်သေတစ်ခုသည် ထို အရှင်မြတ်အထံတော်မှပါရှိခဲ့၏။

➤➤ တမန်တော်မြတ်၏ ဩဝါဒတော်များတွင်လာရှိသည်မှာ အချို့ကာဖိရ်များသည်လည်း ကောင်းမှုများပြုလုပ်ကြ၏၊ သို့ရာတွင် ၎င်းတို့၏ကောင်းမှုများသည် အမြင်အားဖြင့်သာလျှင်ဖြစ်၏၊ ထိုကောင်းမှုများတွင် အီမာန်တည်းဟူသော အသက်မပါ။ ထိုကာဖိရ်များ၏ ကောင်းမှုများသည်လည်း ဤပစ္စက္ခဘဝ၌ အချည်းနှီးမဖြစ်ပေ။ အလ္လာဟ်အရှင်မြတ်သည် ကောင်းမှုများ၏အစားကို ဤပစ္စက္ခဘဝတွင်ပင် ၎င်းတို့အား ကျန်းမာမှု၊ သားသမီး၊ ဥစ္စာပစ္စည်း၊ ဂုဏ်အင်ဒြပ်၊ ဩဇာအာဏာစသည့် လောကီဂုဏ်ပကာသနများကို ပေးတော်မူ၍ ၎င်းတို့၏စာရင်းကို ရှင်းပစ်တော်မူသည်။ ထိုကာဖိရ်များ သေကြပြီးနောက် ၎င်းတို့အဖို့ အကျိုးဖြစ်ထွန်းစေမည့်အရာဟူ၍ အလျင်းရှိမည် မဟုတ်ပေ။ ကာဖိရ်များအတွက် သတ်မှတ်ထားတော်မူသော ပြစ်ဒဏ်အသီးသီးတို့သည် မုချသက်ရောက်မည်သာဖြစ်သည်။ ဤသည့်သဘောကို ကုရ်အာန်(၁၇း၁၈-၂၁။ ၄၂း၂၀)တွင်လည်း မိန့်ဆိုထားတော်မူသည်။

လောကီအကျိုးကို လိုလားတပ်မက်မောသော 'အာလင်မ်' ပညာရှင်များ၊ 'မုဂျာဟစ်ဒ်' များ၊ ဥစ္စာဓန ကုံလုံကြွယ်ဝ၍ အလှူဒါနပြုသူများနှင့် ပတ်သက်၍လာရှိသော ခြိမ်းခြောက်မှုများ၏ သဘောမှာလည်း ကိယာမက်နေ့တွင် ၎င်းတို့အား 'အသင်တို့သည် လောကီဂုဏ်ပကာသနကျော်ကြားမှု၊ နာမည်ကြီးမှုများအတွက် ပညာသင်ကြားခဲ့ကြ၏။ ဂျိဟာဒ် ပြုခဲ့ကြ၏၊ အလှူဒါန ပြုခဲ့ကြ၏၊ ထိုသည့် ရည်ရွယ်ချက်များသည် ပစ္စက္ခဘဝ၌ပင် အသီးသီး ရရှိခဲ့ကြပြီးဖြစ်သည်။ ယခု ငါ့အရှင်မြတ်ထံတော်၌ အသင်တို့အဖို့ တစ်စုံတစ်ရာမရှိချေ' ဟု ဖြေကြားတော်မူမည်ဖြစ်သည်။ ထိုသို့ဖြေကြားတော်မူပြီးနောက် ကောင်းကင်တမန်များအား ၎င်းတို့ကို ဂျဟန္နမ်ငရဲသို့ ဆောင်ယူသွတ်သွင်းရန် အမိန့်ပေးတော်မူမည်ဖြစ်သည်။ (အလ္လာဟ်အရှင်မြတ်သည် အကျွန်ုပ်တို့အား ဤသည့်အဖြစ်ဆိုးမှ ဖယ်ရှားပေးတော်မူသည်ဖြစ်ပါစေ) (အာမီန်။)

(၁) အကြင်သူတစ်ဦးသည် အလ္လာဟ်အရှင်မြတ်ထံတော်မှ ကျရောက်လာသော ကုရ်အာန်ကျမ်းတော်မြတ် ➤➤

➤➤ အပေါ်၌ တည်ရှိ၏။ ထိုကျမ်းမြတ်သည် တန်ခိုးပြာဋိဟာဖြစ်ကြောင်းနှင့် စပ်လျဉ်း၍ သက်သေသာဓကသည် ထိုကျမ်းမြတ်အထဲ၌ပင်ရှိသည်။ ဤသည် ယုတ္တိဒဋ္ဌိဖြစ်၏။ ထို့ပြင်တဝ တမန်တော်မူစာ(အလိုင်ဟစ္စလာမ်) ချီးမြှင့်ခြင်းခံရသော 'တောင်ရာတ်' ကျမ်းမြတ်တွင်လည်း သက်သေသာဓကပေါ်ရှိခဲ့၏။ ဤသည် အာဂမဒဋ္ဌိဖြစ်၏။ ဤသို့အားဖြင့် ကုရ်အာန်ကျမ်းမြတ်၏ မှန်ကန်ကြောင်းနှင့် စပ်လျဉ်း၍ ယုတ္တိဒဋ္ဌိ၊ အာဂမဒဋ္ဌိ နှစ်လီသော သာဓကများရှိနေပေ၏။

ဤသို့သော ကုရ်အာန်ကျမ်းမြတ်ပေါ်၌ တည်ရှိနေသောသူများနှင့် ထိုကုရ်အာန်ကို သွေဖည်ငြင်းဆန်မနာခံသောသူများသည် အသို့လျှင် အတူ ဖြစ်နိုင်ကြအံ့နည်း။ အလျှင်းမဖြစ်နိုင်ကြပေ။

(ထာနဝီ)

"ဗိုင်ယိနဟ်" ထင်ရှားသော လမ်းစဉ်ဟူသည် အကြင်လမ်းစဉ်ကို ဆိုလိုသည်။ ထိုလမ်းစဉ်အပေါ်၌ လူသားသည် အကယ်၍ မိမိပတ်ဝန်းကျင်၏ အခြေအနေအတွေးအခေါ်များ၏ လွှမ်းမိုးမှုနှင့် ကင်းသော် မိမိ၏မူလဘူတ သဘာဝအလျောက် သွားလာလို၏။ ထိုလမ်းစဉ်ကား အခြားမဟုတ်၊ တောင်ဟိဒ်၊ အစ္စလာမ်နှင့် ကုရ်အာန်၏ လမ်းစဉ်ပင်ဖြစ်သည်။ (ကြည့်-ကဗီရ်၊ ရှုဟ်။) ဤသည့်သဘောနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ် (၃၀း ၃၀) တွင်လည်း မိန့်ဆိုထားတော်မူသည်။ တမန်တော်မြတ်၏ ဩဝါဒတွင်လည်း အောက်ပါအတိုင်း တွေ့ရှိရပေသည်။

"ကလေးတိုင်းသည် သဘာဝတရားအတိုင်း မွေးဖွားလာခဲ့၏။ ထို့နောက် ထိုကလေး၏ မိဘနှစ်ပါးတို့သည် ထိုကလေးကို ယဟူဒီ၊ သို့မဟုတ် နဆွဲရာနီ၊ သို့မဟုတ် မဂျူစီ ဖြစ်စေကြသည်။" အီဗ်နုကဆီရ်၊

'ထိုအရှင်မြတ်၏ဘက်တော်မှ သက်သေ' ဟူသည် ကုရ်အာန်ကျမ်းမြတ်ကို ဆိုလိုသည်။ ယင်းကုရ်အာန်သည် 'ဒီနီဖစ်တွ်ရတ်' (ဝါ) သဘာဝသာသနာ (ဝါ) တောင်ဟိဒ်နှင့် အစ္စလာမ်၏ လမ်းစဉ်အပေါ်၌ သွားလာသူမှာ အမှန်မုချမှန်ကန်သော လမ်းစဉ်အပေါ်၌ သွားလာသူ ဖြစ်ကြောင်းကို သက်သေခံသည်။

ထို့ပြင်တဝ ကုရ်အာန်ကျမ်းမြတ်သည် မိမိ၏ မှန်ကန်ကြောင်းနှင့် စပ်လျဉ်း၍ 'နေထွက်ခြင်းသည် နေရှိနေခြင်း၏ သက်သေဖြစ်သည်' ဆိုသကဲ့သို့ မိမိကိုယ်တိုင်ပင် သက်သေဖြစ်ပေသည်။

ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ်ထံတော်မှ ကုရ်အာန်ကျမ်းမြတ်ကို ယူဆောင်လာသော ကောင်းကင်တမန် ဂျစ်ဗ်ရာအီလ်နှင့် ထိုကျမ်းမြတ်ကို လက်ခံယူတော်မူသော တမန်တော်မြတ်တို့သည်လည်း သက်သေများ ဖြစ်ကြသည်ဟူ၍လည်း ယူဆနိုင်ပေသည်။

အထူးသဖြင့် တမန်တော်မြတ်၏ အကျင့်စာရိတ္တ၊ အလေ့အထများ၊ တန်ခိုးပြာဋိဟာများ၊ တမန်တော်မြတ် ပြောဆိုမိန့်ကြားတော်မူသည့် ဩဝါဒတော်များ၊ တမန်တော်မြတ် ရုပ်ဆင်းသဏ္ဌာန်များကို ထောက်ရှုဆင်ခြင်ပါက တမန်တော်မြတ်ယူဆောင်လာသော သာသနာသည် မှန်ကန်သော သာသနာသာ ဖြစ်ကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။

ထို့ပြင်တဝ ကုရ်အာန်ကျမ်းမြတ်အလျှင် သက်ဆိုင်ရာ နဗီတမန်တော်များထံသို့ အသီးသီး ထုတ်ပြန် ချမှတ်တော်မူခဲ့သော ကျမ်းဂန်များ၊ အထူးသဖြင့် တမန်တော်မူစာ (အလိုင်ဟစ္စလာမ်) ချီးမြှင့်တော်မူခြင်း ခံခဲ့ရသော 'တောင်ရာတ်' ကျမ်းမြတ်တွင်လည်း ဤသည့်သဘောကို မိန့်ဆိုထားတော်မူသည်။

သို့ဖြစ်ရာ ကုရ်အာန်ကျမ်းမြတ်၏ လမ်းစဉ်ကို လိုက်နာကျင့်သုံးသောသူများနှင့် လောကီရေးတွင် လုံးဝနစ်မွန်း၍ လောကီအကျိုး သက်သက်ကို တပ်မက်မောသူများသည် အသို့လျှင် အတူတူ ဖြစ်နိုင်ကြအံ့နည်း။ အလျှင်း မဖြစ်နိုင်ချေ။

وَرَحْمَةً ۚ أُولَٰئِكَ يُؤْمِنُونَ بِهِ ۚ
وَمَن يَكْفُرْ بِهِ مِنَ
الْأَحْزَابِ فَالنَّارُ مَوْعِدُهُ ۚ
فَلَا تَكُ فِي مِرْيَةٍ مِّنْهُ ۚ
إِنَّهُ الْحَقُّ مِن رَّبِّكَ وَلَٰكِنَّ
أَكْثَرَ النَّاسِ لَا يُؤْمِنُونَ ﴿١٧﴾

(တနည်း) သို့ဖြစ်ပေရာ အကြင်သူတို့သည် မိမိတို့၏အရှင်မြတ်ထံတော်မှ (ရောက်ရှိလာခဲ့သော) ကုရ်အာန်ကျမ်းမြတ်အပေါ်၌တည်ရှိကြကုန်၏။ ထို့ပြင် ထိုကျမ်းမြတ်နှင့်အတူ ထိုကျမ်းမြတ်ထဲ၌ပင် သက်သေခံတစ်ခုပါရှိ၏။) ထိုမှတစ်ပါး ၎င်း၏အလျင် (နဗီတမန်တော်)မူစာ၏ ကျမ်းဂန်သည် ရှေ့ဆောင်ရှေ့ရပ်အဖြစ်လည်းကောင်း၊ ကရုဏာတော်အဖြစ်လည်းကောင်း (ထောက်ခံလျက်) ရှိခဲ့၏။ (လောကီဘဝကို ရည်စူးသောသူတို့သည် ထိုကဲ့သို့သောသူတို့နှင့် တူနိုင်ကြပါမည်လော။) ထိုကဲ့သို့သော သူတို့သည် ယင်း (ကုရ်အာန်ကျမ်းတော်မြတ်)ကို ယုံကြည်ကြလေသည်၊

ထို့ပြင် *အုပ်စုများအနက်မှ* [၁] မည်သူမဆို ယင်း (ကုရ်အာန်ကျမ်းတော်မြတ်)ကို ငြင်းပယ်ခဲ့ပါလျှင် ငရဲဘုံသည် ထိုသူ၏ ချိန်းချက်ထားသော နေရာပင် ဖြစ်ပေသည်။ သို့ဖြစ်ပေရာ အသင်သည် ထိုကုရ်အာန်ကျမ်းတော်မြတ်နှင့်စပ်လျဉ်း၍ဒွိဟသံသယ မဖြစ်ပါလေနှင့်၊ ဧကန်မလွဲ ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ(ကျရောက်လာသည့်) မှန်ကန်သော ကျမ်းတော်မြတ်ပင် ဖြစ်ချေသည်။ သို့ရာတွင် မြောက်မြားစွာသော သူတို့မှုကား သက်ဝင်ယုံကြည်သည် မဟုတ်ချေ။

(၁) ဤအာယတ်တော်တွင် လာရှိသော 'အဟ်ဇာဗ်' ဟူသည် ကမ္ဘာ့အဝှန်းရှိ လူသားတို့အနက် အသွေးအရောင်မခြား ရုပ်ဆင်းသဏ္ဌာန်မရွေး အမျိုးအစားမရွေး ကုရ်အာန်ကျမ်းမြတ်ကို လက်မခံငြင်းဆန်သော ကာဖိရ်အားလုံးတို့ကို ဆိုလိုသည်။

وَمَنْ أَظْلَمُ مِمَّنِ افْتَرَىٰ عَلَى اللَّهِ كَذِبًا ۚ أُولَٰئِكَ يُعْرَضُونَ عَلَىٰ رَبِّهِمْ وَيَقُولُ الْأَشْهَادُ هَٰؤُلَاءِ الَّذِينَ كَذَبُوا عَلَىٰ رَبِّهِمْ ۚ أَلَا لَعْنَةُ اللَّهِ عَلَى الظَّالِمِينَ ﴿١٨﴾

၁၈။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်အပေါ်၌ မုသားကို လီဆယ်၍ စွပ်စွဲသောသူထက်ပို၍ မတရား စော်ကားသောသူသည် မည်သူ ရှိပါဦးမည်နည်း။ ဤကဲ့သို့သောသူများသည် ၎င်းတို့၏ အရှင်မြတ် ရှေ့တော်မှောက်ဝယ် ဝင်ရောက်စေခြင်းကို ခံကြရပေမည်။ ထိုအခါသက်သေများက ဤသူများပင် မိမိတို့၏အရှင်မြတ်အပေါ်၌ မုသားပြောဆိုစွပ်စွဲခဲ့သောသူများ ဖြစ်ကြသည်' ဟု ပြောဆိုကြပေမည်။ [1] အလ္လာဟ် အရှင်မြတ်၏စက်ဆုပ်တော်မူခြင်းသည် မတရားသော သူတို့၏အပေါ်၌ ရှိချိမ့်မည်ဖြစ်ကြောင်း (ကောင်းစွာ) သတိပြုကြလေကုန်။

الَّذِينَ يَصُدُّونَ عَن سَبِيلِ اللَّهِ وَيَبْغُونَهَا عِوَجًا

၁၉။ (ထိုကျူးကျော်စော်ကားသောသူများကား) အကြင်သူတို့ပင်၊ ထိုသူတို့သည် (သူတစ်ပါးတို့အား လည်း) အလ္လာဟ်အရှင်မြတ်လမ်းတော်မှ ပိတ်ပင် တားဆီးကြလေသည်။ ၎င်းပြင်ထိုသူတို့သည် ထိုလမ်း တွင် ကွေ့ကောက်မှုကို ရှာကြံကြလေသည်။

---

(၁) အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ မုသားစွပ်စွဲပြောဆိုခြင်းမှာ ထိုအရှင်မြတ် တစ်ပါးတည်းရှိတော်မူခြင်းကို ငြင်းပယ်ခြင်း၊သို့မဟုတ် တမန်တော်မြတ်၏ တမန်တော်ဖြစ်ခြင်းကို ငြင်းပယ်ခြင်း၊ သို့မဟုတ် ကုရ်အာန် ကျမ်းမြတ်သည် ထိုအရှင်မြတ်၏ ကျမ်းဂန်မဟုတ်ဟု ငြင်းပယ်ခြင်း၊ သို့မဟုတ် ထိုအရှင်မြတ်၌ တွဲဘက် ယှဉ်ဘက် ရှိသည်ဟု ဆိုခြင်းစသည်များပင်ဖြစ်သည်။ သက်သေသာဓက အထောက်အထား အထင်အရှား ရှိပါလျက် ယင်းကဲ့သို့ မုသားစွပ်စွဲ ပြောဆိုသူများထက်ပိုမို၍ ကျူးလွန်စော်ကားသူ အသူရှိနိုင်အံ့နည်း။

ထိုသို့ စွပ်စွဲပြောဆိုသူများသည် နောင်တမလွန်ဘဝတွင် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်သို့ သွတ်သွင်းခြင်းခံရမည်။ ထိုအခါ သက်သေများက 'ဤသူများသည်ပင် မိမိတို့၏ အရှင်သခင်နှင့် ပတ်သက်၍ မုသားစွပ်စွဲ ပြောဆိုသူများဖြစ်ကြပါသည်' ဟု ကမ္ဘာ့ရှေ့မှောက်တွင် သက်သေခံကြမည်ဖြစ်သည်။

ထိုသက်သေများကား မည်သူများနည်း။ ဤတွင် အဆိုပြားလျက်ရှိပေသည်။

(က) အချို့က ထိုသက်သေများသည် ဤပစ္စက္ခဘဝ၌ လူသားတို့၏ အပြုအမူများကို ရေးမှတ်ကြသော ကောင်းကင်တမန်များ ဖြစ်ကြသည်ဟု ဆိုကြ၏။

(ခ) အချို့က ထိုသက်သေများသည် ကောင်းကင်တမန်များ၊ နဗီများ၊ မွတ်စ်လင်မ်များ၊လူသားတို့၏ ကိုယ်အင်္ဂါအဆစ်အပိုင်းများ ဖြစ်ကြသည်ဟု ဆိုကြ၏။

وَهُمْ بِالْاٰخِرَةِ هُمْ
كٰفِرُوْنَ ⑲

ထိုမှတစ်ပါး ၎င်းတို့ကိုယ်တိုင်ပင် 'အာခိရတ်' နောင်တမလွန်ဘဝကို ငြင်းပယ်သူများ ဖြစ်ကြကုန်သတည်း။ (တစ်နည်း) ၎င်းတို့သည်ကား 'အာခိရတ်' နောင်တမလွန်ဘဝကိုပင် ငြင်းပယ်သူများ ဖြစ်ကြပေသတည်း။

اُولٰٓئِكَ لَمْ يَكُوْنُوْا مُعْجِزِيْنَ
فِى الْاَرْضِ وَمَا كَانَ لَهُمْ
مِّنْ دُوْنِ اللّٰهِ مِنْ اَوْلِيَآءَ ۘ
يُضٰعَفُ لَهُمُ الْعَذَابُ ۚ
مَا كَانُوْا يَسْتَطِيْعُوْنَ السَّمْعَ
وَمَا كَانُوْا يُبْصِرُوْنَ ⑳

၂၀။ ဤသူများသည် ကမ္ဘာမြေ၌လည်း (အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်ပေးတော်မူခြင်းမှ) လွတ်မြောက်နိုင်သူများ မဟုတ်ခဲ့ကြချေ။ ထိုမှတစ်ပါး ၎င်းတို့၌ အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်ပြိုင်၍ ကူညီစောင်မမည့်သူဟူ၍လည်း တစ်ဦးတစ်ယောက်မျှ မရှိခဲ့ချေ။ (ယနေ့မူကား) ၎င်းတို့၌ပြစ်ဒဏ်သည် နှစ်ဆပြုလုပ်ခြင်းကို ခံရပေမည်။ ၎င်းတို့သည် (မလိုမုန်းတီးမှုကြောင့် ကုရ်အာန်ကျမ်းတော်မြတ်ကိုလည်း) ကြားနာ နိုင်စွမ်းမရှိခဲ့ကြပေ။ (အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာသာဓကများကိုလည်း) မြင်နိုင်ကြသည် မရှိခဲ့ချေ။ ၁

اُولٰٓئِكَ الَّذِيْنَ خَسِرُوْٓا
اَنْفُسَهُمْ وَضَلَّ عَنْهُمْ مَّا
كَانُوْا يَفْتَرُوْنَ ㉑

၂၁။ ဤသူများပင် မိမိတို့ကိုယ်ကို မိမိတို့ ဆုံးရှုံးနစ်နာစေခဲ့ကြသော သူများတည်း။ ထို့ပြင် ၎င်းတို့ထံမှ ၎င်းတို့ လီဆယ်ဖန်တီးခဲ့ကြသော (ကိုးကွယ်ရာများသည်) ပျောက်ကွယ်၍ သွားကြလေပြီ။

---

(၁) ထိုကျူးကျော်စော်ကားသူများသည် အလွန့်အလွန်မုန်းတီးမှုကြောင့် အမှန်တရားကိုလည်း မကြားနာနိုင်ကြတော့ပေ၊ အလွန့်အလွန်ဆန့်ကျင်ဖီလာပြုလိုမှုကြောင့် သက်သေလက္ခဏာတော်များကိုလည်း မမြင်နိုင်ကြတော့ပေ။ ဤကား မျက်မြင်ကိုယ်တွေ့ကိစ္စပင်။ အကြင်သူတစ်ဦးသည် အရာတစ်ခုကို အလွန့်အလွန်မုန်းတီး၏။ ဆန့်ကျင်၏။ စက်ဆုပ်ရွံ့ရှာ၏။ သို့ဖြစ်လျှင် ထိုသူသည် ထိုအရာကို မကြည့်နိုင်တော့ပေ၊ မကြားနိုင်တော့ပေ။ ယနေ့ကျွန်ုပ်တို့တွင် 'သူဖြူလျှင် ငါမည်းမည်၊ သူလုပ်သမျှ ငါဆန့်ကျင်မည်၊ သူ့မျက်နှာ ငါမကြည့်ချင်၊ သူ့အသံ ငါမကြားလို၊ သူနှင့်ငါ ကြမ်း တစ်ပြေးတည်းမထိုင်၊ ဆိုသကဲ့သို့ အချင်းအချင်း အလွန်အကျွံမုန်းတီးနေကြသည်။ ရွံ့ရှာစက်ဆုပ်နေကြသည်။ ဤကားမွတ်စ်လင်မ်တို့၏ အလုပ်မဟုတ်ပေ၊ ကာဖိရ် သူယုတ်တို့၏ အလုပ်သာတည်း။ (အလ္လာဟ်အရှင်မြတ်သည် ဤသည့်အဖြစ်ဆိုးမှ ကျွန်ုပ်တို့အား ဖယ်ရှားတော်မူပါစေသတည်း၊)

لَا جَرَمَ أَنَّهُمْ فِي الْآخِرَةِ هُمُ الْأَخْسَرُونَ ﴿٢٢﴾

၂၂။ ဧကန်မလွဲ ၎င်းတို့သည်ပင် နောင်တမလွန်ဘဝတွင် အနစ်နာဆုံးသော သူများဖြစ်ကြပေမည်။

إِنَّ الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ وَأَخْبَتُوا إِلَىٰ رَبِّهِمْ أُولَٰئِكَ أَصْحَابُ الْجَنَّةِ هُمْ فِيهَا خَالِدُونَ ﴿٢٣﴾

၂၃။ ဧကန်စင်စစ် အကြင်သူတို့သည် သက်ဝင်ယုံကြည်ခဲ့ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မှုဆောက်တည်ခဲ့ကြကုန်၏။ ထိုမှတစ်ပါး ၎င်းတို့သည် မိမိတို့၏ အရှင်မြတ်ရှေ့တော်ဝယ် ကျိုးနွံခဲ့ကြကုန်၏။ ထိုသူများကား 'ဂျန္နတ်' အမတသုခဘုံသားများ ဖြစ်ကြကုန်၏။ ထိုသူတို့သည် ယင်း 'ဂျန္နတ်' အမတသုခဘုံ၌ ထာဝစဉ် နေထိုင်စံမြန်းကြရမည့်သူများပင်တည်း။

مَثَلُ الْفَرِيقَيْنِ كَالْأَعْمَىٰ وَالْأَصَمِّ وَالْبَصِيرِ وَالسَّمِيعِ ۚ هَلْ يَسْتَوِيَانِ مَثَلًا ۚ أَفَلَا تَذَكَّرُونَ ﴿٢٤﴾

၂၄။ (သက်ဝင်ယုံကြည်သူနှင့်သွေဖည်ငြင်းပယ် သူ) အုပ်စုနှစ်စု၏ဥပမာကား *မျက်စိကန်းသူနှင့်နားပင်းသူ၊ မျက်စိမြင်သူနှင့် နားကြားသူကဲ့သို့ပင်။* [၁] ထိုသူတို့နှစ်ဦးသည် အခြေအနေအားဖြင့် တူကြလေသလော။ သို့ဖြစ်ပါလျက် အသင်တို့သည် သတိတရား မရရှိကြပါသလော။

وَلَقَدْ أَرْسَلْنَا نُوحًا إِلَىٰ قَوْمِهِ إِنِّي لَكُمْ نَذِيرٌ مُبِينٌ ﴿٢٥﴾

၂၅။ ထို့ပြင်ဧကန်စင်စစ် ငါအရှင်မြတ်သည် (နဗီတမန်တော်)နူဟ်အား ၎င်း၏အမျိုးသားတို့ထံစေလွှတ်တော်မူခဲ့လေသည်။ (သို့ဖြစ်ပေရာ ထိုနဗီတမန်တော်နူဟ်က) ဧကန်အမှန် ငါသည် အသင်တို့အဖို့ ပွင့်ပွင့်လင်းလင်း ထင်ရှားစွာသော သတိပေးသူဖြစ်သည် (ဟု ပြောဆိုခဲ့လေသည်)။

---

(၁) ကာဖိရ်နှင့် မွတ်စ်လင်မ်သည်မတူချေ။ ကာဖိရ်သည် မျက်စိလည်းကန်း၏။ နားလည်း ပင်း၏။ ထို့အတွက် အမှန်နှင့် အမှားကို မခွဲခြားနိုင်၊ တရားစကားများကိုလည်း မကြားနိုင်၊ မွတ်စ်လင်မ်သည် မျက်စိလည်းမြင်၏။ နားလည်းကြား၏။ ထို့အတွက် အမှန်နှင့် အမှားကို ခွဲခြားနိုင်၏။ တရားစကားများကိုကြားနာနိုင်၏။ သို့ဖြစ်ပေရာ ကာဖိရ်နှင့် မွတ်စ်လင်မ်သည် အသို့လျှင် တူနိုင်ကြအံ့နည်း။ မျက်စိကန်းသူနှင့် မျက်စိမြင်သူ၊ အမှောင်နှင့်အလင်း၊ အရိပ်နှင့်နေပူ၊ အရှင်နှင့်အသေ အသို့လျှင်တူနိုင်ကြအံ့နည်း။ အကြောင်းမတူက အကျိုးလည်းမတူနိုင်ပေ၊ ➢➢

أَن لَّا تَعْبُدُوٓا۟ إِلَّا ٱللَّهَ ۖ إِنِّىٓ أَخَافُ عَلَيْكُمْ عَذَابَ يَوْمٍ أَلِيمٍ ﴿٢٦﴾

၂၆။ အသင်တို့သည် *အလ္လာဟ်အရှင်မြတ်မှတပါး အခြားတစ်စုံတစ်ရာကိုမျှ ကိုးကွယ်ဆည်းကပ်ခြင်း မပြုကြကုန်လင့်၊* [၁] အကြောင်းသော်ကား ငါသည် အသင်တို့နှင့် ပတ်သက်၍ *နာကျင်ဖွယ်ဖြစ်သောနေ့၏ ပြစ်ဒဏ်ကို* [၂] စိုးရိမ်သောကြောင့်ပင်။

فَقَالَ ٱلْمَلَأُ ٱلَّذِينَ كَفَرُوا۟ مِن قَوْمِهِۦ مَا نَرَىٰكَ إِلَّا بَشَرًا مِّثْلَنَا وَمَا نَرَىٰكَ ٱتَّبَعَكَ إِلَّا ٱلَّذِينَ هُمْ أَرَاذِلُنَا بَادِىَ ٱلرَّأْىِ وَمَا نَرَىٰ لَكُمْ عَلَيْنَا مِن فَضْلٍۭ بَلْ نَظُنُّكُمْ كَٰذِبِينَ ﴿٢٧﴾

၂၇။ ထိုအခါ ယင်း(နဗီတမန်တော်) နူဟ်၏ အမျိုးသားတို့အနက်မှ သွေဖည်ငြင်းပယ်ခဲ့ကြသော အကြီးအကဲတို့က (ဤသို့) ပြောဆိုခဲ့ကြလေသည်။ "ကျွန်ုပ်တို့သည် အသင့်အား မိမိတို့ကဲ့သို့ပင် လူသားတဦးအဖြစ်နှင့်သာလျှင် မြင်ကြပေသည်။ ထိုမှတပါး ကျွန်ုပ်တို့သည် မိမိတို့အနက်မှ အပေါ်ယံ ကြည့်ရှုလေ့လာခြင်းအားဖြင့် ဂုဏ်အသရေ အယုတ်ညံ့ဆုံး ဖြစ်သောသူတို့မှတပါး အခြားသူတို့သည် အသင်၏ နောက်သို့ လိုက်ကြသည်ကို မမြင်ကြချေ။

ထို့ပြင် ကျွန်ုပ်တို့သည် အသင်တို့၌ မိမိတို့ ထက် တစ်စုံတစ်ရာ ထူးကဲသာလွန်မြင့်မြတ်ခြင်း ကိုလည်း မတွေ့မြင်ကြပေ။ အမှန်စင်စစ်သော်ကား ကျွန်ုပ်တို့သည် အသင်တို့အား မုသားပြောဆိုသူများ ဟူ၍သာ ထင်မြင်ယူဆကြပေသတည်း။ [၃]

---

➤➤ ကာဖိရ်၏ လားရာဌာနသည် 'ဂျဟန္နမ်' ငရဲဖြစ်သည်။ မုအ်မင်န်၏ လားရာဌာနကား ဂျန္နတ် ဖြစ်သည်။ ဤသည့်သဘောကို ကုရ်အာန် (၃၅း ၁၉-၂၄) တွင်လည်း ဥပမာပုံခိုင်း၍ မိန့်ဆိုထားတော်မူသည်။

(၁) ပွင့်လေသမျှသော တမန်တော်အားလုံးတို့သည် "တောင်ဟိဒ်" ခေါ် တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ် အားသာလျှင် ခဝပ်ကိုးကွယ်ရန် အဓိကထား၍ ဟောကြားခဲ့ကြကုန်၏။ တမန်တော် နူဟ်(အလိုင်ဟစ္စလာမ်) သည်လည်း ဤသည့်တရားကိုပင် စတင်ဟောကြားတော်မူခဲ့၏။

တမန်တော်နူဟ်၏ အမျိုးသားများသည် ဝဒ္ဒ၊ စုဝါအ၊ ယဃူဆ၊ ယအူက၊ နတ်စ်ရ အမည်ရှိသော ရုပ်ထုများကို ကိုးကွယ်နေခဲ့ကြသည်။ ကြည့်-ကုရ်အာန် (၇၁း၂၃)။ ထို့အတွက် တမန်တော်နူဟ်က "အသင်တို့သည် အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားမည်သည့်အရာကိုမျှ ကိုးကွယ်ခြင်း အလျင်းမပြုကြကုန်လင့်" ဟု စတင်ဟောကြားတော်မူခဲ့ ခြင်းဖြစ်သည်။

(၂) ပြင်းပျနာကျင်ဖွယ်ဖြစ်သောနေ့၏ ပြစ်ဒဏ်ဟူသည် ကိယာမတ်နေ့၏ ပြစ်ဒဏ်ကိုသော်လည်းကောင်း၊ ရေဘေးသင့်သည့်နေ့၏ ပြစ်ဒဏ်ကိုသော်လည်းကောင်း ဆိုလိုသည်။ ဤတွင် ဒွိဟမရှိပြီ။ (ကဗီရ်)

(၃) တမန်တော် နူဟ်(အလိုင်ဟစ္စလာမ်)က မိမိ၏ အမျိုးသားများအား 'တောင်ဟိဒ်' တရားဟောကြားတော်မူသည့်အခါ ထိုအမျိုးသားများအနက် ကာဖိရ်အကြီးအကဲများက တမန်တော်မြတ်အား ဆန့်ကျင်၍ ပြောဆိုကြလေသည်။ ၎င်းတို့၏ ပြောဆိုချက်၏ သဘောမှာ အောက်ပါအတိုင်းဖြစ်သည်။

၁။ 'တမန်တော်ဟူသော ပုဂ္ဂိုလ်၌ တမျိုးသားလုံးနှင့် မတူ၊ ထူးခြားသည့် အချက်ရှိရမည်။ ယခု ကျွန်ုပ်တို့တွေ့မြင်နေကြရသည်မှာ အသင်သည် ကျွန်ုပ်တို့ကဲ့သို့ လူသားတစ်ဦးမျှဖြစ်သည်။ ကောင်းကင်တမန်မဟုတ်၊ အကြောင်းမဲ့ ကျွန်ုပ်တို့သည် အသင့်ရှေ့မှောက်၌ ဦးမညွှတ်နိုင်ကြပေ။

၂။ 'ထို့ပြင်တဝ လူသားတစ်ဦးသည် တမန်တော်ဖြစ်နိုင်သည်ပင် ထားဦး၊ အသင်၌ ကျွန်ုပ်တို့ထက် ထူးကဲမြင့်မြတ်မှု၊ သာပိုမှု၊ တစ်စုံတစ်ခုကိုမျှ မတွေ့ရှိရ။ အသင့်၌ ဥစ္စာခနေလည်း မရှိ၊ ရာထူးဌာနန္တရလည်းမရှိ၊ ဩဇာတိက္ကမလည်းမရှိ။

၃။ ထို့ပြင်တဝ အသင့်အား ယုံကြည်ထောက်ခံပါသည်ဟု ပြောဆိုနေကြသော အသင်၏ လက်ရှိနောက်လိုက်တပည့်များမှာလည်း ဆင်းရဲသားကျောမွဲများ၊ သေးနုပ်သိမ်ဖျင်းသောသူများ၊ ဩဇာတိက္ကမမရှိသောသူများ၊ အောက်တန်းစား လူတန်းစားများသာလျှင် ဖြစ်ကြပေသည်။ ဤသို့သော သူများနှင့်အတူ ကျွန်ုပ်တို့သည် ကြမ်းတပြေးတည်း မထိုင်နိုင်၊ သူတို့နှင့် အတူ ပူးတွဲထိုင်ခြင်းသည်ပင် ကျွန်ုပ်တို့၏ ဂုဏ်သိက္ခာကို ထိခိုက်စေသည်၊ ညှိုးနွမ်းစေသည်၊ ရှက်ဖွယ်ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အဖြစ် ရွေးချယ်မြှောက်စားတော်မူရန်အတွက် ကမ္ဘာ့အဝန်းမှ အသင့်ကိုပင် တွေ့မြင်တော်မူလေသလော။ ကျွန်ုပ်တို့သည် အသင့်ထက် အမျိုးအနွယ်အားဖြင့် လည်းကောင်း၊ ဥစ္စာခနေအားဖြင့်လည်းကောင်း၊ အဆင်းအားဖြင့်လည်းကောင်း၊ အချင်းအားဖြင့်လည်းကောင်း၊ မည်သည့်အရာ၌မျှ နိမ့်ကျကြသည်မရှိ၊ တမန်တော်အဖြစ် ရွေးခြင်းရွေးလျှင် ကျွန်ုပ်တို့အားသာလျှင် ရွေးရန်ရှိသည်။

၄။ ယုတ်စွအဆုံး အသင်၏ နောက်လိုက်များသည် ဩဇာတိက္ကမရှိသူများ၊ ဂုဏ်အသရေရှိသူများ ဖြစ်သင့်ကြပေသည်။ ယခုမူ အသင်၏ နောက်လိုက်များမှာ သေးနုပ်သိမ်ဖျင်းသော လူတန်းစားများသာ ဖြစ်ကြပေသည်။ ဤကဲ့သို့ သေးနုပ်သိမ်ဖျင်းသော လူတန်းစားများက အသင့်အား ယုံကြည် ထောက်ခံကြသည့်အတွက် အသင့်၌ မည်သို့မျှ ဂုဏ်အင်ဒြပ်ကြီးမားသွားသည်လည်းမရှိပေ။ အသင်၏ မှန်ကန်မှုအတွက် အထောက်အထားလည်း မဖြစ်နိုင်ပေ။ ဤကဲ့သို့ သေးနုပ်သိမ်ဖျင်းသော အတွေးအခေါ် အမြော်အမြင် မရှိသော လူတစ်စုက မစဉ်းမစား မဆင်ခြင်ဘဲ အသင့်အား ယုံကြည် ထောက်ခံကြသည့်အတွက် အသင့်အဖို့ မည်သို့မျှ အကျိုးလည်း မရှိပေ။

၅။ ကျွန်ုပ်တို့၏ ထင်မြင်ယူဆချက်မှာ အသင်နှင့်တကွ အသင်၏ နောက်လိုက်များသည် အားလုံး လူလိမ်များသာ ဖြစ်ကြလေသည်။

အသင်သည် အကြံသစ်တစ်ခု ထုတ်လိုက်သည်၊ လူပြိန်းတစ်စုက ဝိုင်းထောက်ခံလိုက်ကြသည်။ ဤသို့ လမ်းစဉ်တစ်ခု သတ်မှတ်၍ လူပေါ်လူဇော်လုပ်လိုခြင်း၊ အကြီးအကဲဥက္ကဋ္ဌ လုပ်လိုခြင်းသာဖြစ်သည်။ ကျွန်ုပ်တို့ လက်မခံ။

ဤကား တမန်တော် နူဟ်၏ အမျိုးသားများအနက် ကာဖိရ် အကြီးအကဲများက တမန်တော်နူဟ်အား ဆန့်ကျင်ပြောဆိုခဲ့ကြသည့် ပြောဆိုချက်၏ သဘောအကျဉ်းပင် ဖြစ်သည်။

قَالَ يٰقَوْمِ اَرَءَيْتُمْ اِنْ كُنْتُ عَلٰى بَيِّنَةٍ مِّنْ رَّبِّيْ وَاٰتٰىنِيْ رَحْمَةً مِّنْ عِنْدِهٖ فَعُمِّيَتْ عَلَيْكُمْ ۭ اَنُلْزِمُكُمُوْهَا وَاَنْتُمْ لَهَا كٰرِهُوْنَ ۲۸

၂၈။ (ထိုအခါ နဗီတမန်တော်နူဟ်သည် ဤသို့) ပြောဆိုဖြေကြားခဲ့လေသည်။ အို-ငါ၏အမျိုးသားတို့၊ အကယ်၍ငါသည် မိမိအရှင်မြတ်အထံတော်မှ ထင်ရှားစွာသော သက်သေခံအပေါ်၌တည်ရှိနေသော်၊ ၎င်းပြင် ထိုအရှင်မြတ်သည် ငါ့အားမိမိအထံတော်မှ တမန်တော်အဖြစ်ကို ချီးမြှင့်ပေးသနားတော်မူခဲ့သော်၊ ပြီးနောက် ထိုတမန်တော်အဖြစ်သည် အသင်တို့အပေါ်၌ ဖုံးအုပ်လျက်ရှိနေသော် အသင်တို့သည် မည်သို့ ယူဆကြမည်ကို ငါ့အား ပြောပြကြလေကုန်။ အမှန်စင်စစ် အသင်တို့သည်လည်း ယင်းနဗီတမန်တော်ဖြစ်ခြင်းကိုပင် ရွံ့ရှာစက်ဆုပ်နေကြပါလျက် ငါသည် အသင်တို့အား ယင်းနဗီဖြစ်ခြင်းကို (ယုံကြည်လက်ခံကြရန်) အကျပ်ကိုင်ရပါမည်လော။ ၁

(၁) တမန်တော်နူဟ်က မိမိ၏ အမျိုးသားများအနက် ကာဖိရ်တို့အား ဖြေကြားတော်မူသည်မှာ အလ္လာဟ် အရှင်မြတ်၏ တမန်တော်သည် အခြားသူများနှင့် လုံးဝ ခြားနားရမည်ဟူသော အချက်သည်မှန်ကန်သည်။

သို့ရာတွင် ထိုခြားနားချက်သည် ဥစ္စာပစ္စည်း၊ ရာထူးဌာနန္တရ၊ လောကီအရှိန်အဝါအားဖြင့် မဟုတ်ပေ။ အလွန့်အလွန် ကောင်းမွန်မြင့်မြတ်လှသည့် အကျင့်စာရိတ္တ၊ စွမ်းရည်သတ္တိ၊ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားမှု၊ အမှန်တရားကိုလိုက်နာကျင့်သုံးမှု၊ သတ္တဝါအပေါင်းတို့အား သနားကြင်နာမှု၊ အလ္လာဟ်အရှင်မြတ်၏ သက်သေသာဓကေ အထောက်အထားများကို ထင်ရှားပြသမှုအားဖြင့်သာလျှင် ခြားနားပေသည်။ တမန်တော်သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်ပညတ်တော်များနှင့်အညီ မှန်ကန်သော လမ်းစဉ်အပေါ်၌ တည့်မတ်စွာ နေထိုင်သွားလာကျင့်သုံး၍ သူတစ်ပါးအား သွန်သင်ဆုံးမဩဝါဒပေးသည်။ အလ္လာဟ်အရှင်မြတ်၏ ထူးခြားသော ကရုဏာတော်များသည် ထိုတမန်တော်အပေါ်သို့ မိုးရွာသွန်းသည့်အလား သက်ရောက်လျက်ရှိပေသည်။

တမန်တော်နူဟ်က မိမိ၏အမျိုးသားများအား တမန်တော်တစ်ပါး၌ ရှိအပ်သည့် အရည်အချင်းအားလုံးတို့သည် မိမိ၌အပြည့်အစုံရှိသည်၊ သို့ရာတွင် မျက်စိကန်းနေသူသည် နေ၏အလင်းရောင်ကို မမြင်သည့်အလား အသင်တို့၏ မျက်စိများသည်လည်း အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်တည်းဟူသော ရောင်ခြည်တော်ကို မမြင်ပေ။ အသင်တို့သည် မြင်လည်းမမြင်လိုကြပေ။ အမှန်မှာ အသင်တို့၏ အတွင်းစက္ခုများသည် ကန်းလျက်ရှိချေပြီ။ အသင်တို့ မမြင်လို၊ မကြားလို၊ မနာလိုသောအရာကို အသင်တို့ စက်ဆုပ်ရွံ့ရှာမုန်းတီးနေကြသောအရာကို အသင်တို့ လက်ခံကြရန် ကျွန်ုပ်က အကျပ်ကိုင်ရမည်လောဟု ဖြေကြားတော်မူလေသည်။

وَيٰقَوْمِ لَآ اَسْـَٔلُكُمْ عَلَيْهِ مَالًا ۭ اِنْ اَجْرِيَ اِلَّا عَلَى اللّٰهِ وَمَآ اَنَا بِطَارِدِ الَّذِيْنَ اٰمَنُوْا ۭ اِنَّهُمْ مُّلٰقُوْا رَبِّهِمْ وَلٰكِنِّيْٓ اَرٰىكُمْ قَوْمًا تَجْهَلُوْنَ ۝٢٩

၂၉။ စင်စစ်သော်ကား အို-ငါ၏အမျိုးသားတို့၊ ငါသည်အသင်တို့ထံ ယင်း(တရားဓမ္မဟောကြားခြင်း) နှင့် စပ်လျဉ်း၍ ပစ္စည်းဥစ္စာ တစ်စုံတစ်ရာကိုမျှ တောင်းသည်မဟုတ်ပေ၊ ငါ၏အကျိုးဆုလာဘ်သည် အလ္လာဟ်အရှင်မြတ်အပေါ်၌သာ ရှိချေသည်။ ထို့ပြင် ငါသည် 'မုအ်မင်န်' သက်ဝင်ယုံကြည်ခဲ့ကြသောသူတို့အား *မောင်းထုတ်မည့်သူလည်းမဟုတ်ချေ။* [၁] ဧကန်မလွဲ ယင်းသက်ဝင်ယုံကြည်သူတို့ကား *မိမိတို့၏အရှင်မြတ်နှင့် တွေ့ဆုံမည့်သူများတည်း။* [၂] သို့ရာတွင် ငါသည် အသင်တို့အား မိုက်မဲနေကြသောသူများ ဖြစ်ကြသည်ဟူ၍သာ တွေ့မြင်လေသည်။

وَيٰقَوْمِ مَنْ يَّنْصُرُنِيْ مِنَ اللّٰهِ اِنْ طَرَدْتُّهُمْ ۭ اَفَلَا تَذَكَّرُوْنَ ۝٣٠

၃၀။ ထိုမှတစ်ပါး အို-ငါ၏အမျိုးသားတို့၊ အကယ်၍ ငါသည် ၎င်းတို့အား နှင်ထုတ်ခဲ့ပါမူ ငါ့အား အလ္လာဟ်အရှင်မြတ်၏ပြစ်ဒဏ်မှ မည်သူ ကာကွယ်ပါမည်နည်း။ အသင်တို့သည် (ဤမျှပင်) မစဉ်းစားမိကြလေသလော။

---

(၁) တမန်တော် နူဟ်က မိမိ၏အမျိုးသားများအားဖြေကြားသည်မှာ ကျွန်ုပ် ဤသို့တရားဓမ္မဟောကြားခြင်းမှာ လောကီစီးပွားရေး အတွက်မဟုတ်၊ ဝမ်းရေးအတွက်မဟုတ် ဤသို့တရားဓမ္မ ဟောကြားသည့်အတွက် အသင်တို့ထံမှ အခကြေးငွေ တစ်စုံတစ်ရာ တောင်းသည်မရှိ။ တောင်းရန်လည်းမလို၊ တောင်းလည်းမတောင်းအပ်၊ ကျွန်ုပ်သည် မိမိအား ဖန်ဆင်း မွေးမြူတော်မူသော အရှင်၏ ကျွန် အစေခံ မျှဖြစ်သည်။ ကျွန်ုပ်၏ အခသည် ထိုအရှင်မြတ်ထံတော်မှပင် ရရှိမည်ဖြစ်သည်။ ကျွန်ုပ်သည် အသင်တို့၏ ဥစ္စာပစ္စည်းများကို မလိုလားပါ။ မမက်မောပါ။ သို့ဖြစ်ပေရာ ဆင်းရဲသားများကို စွန့်လွှတ်၍ ဥစ္စာဓန ကုံလုံကြွယ်ဝသူများဘက်သို့ ယိမ်းယိုင်ရန် အကြောင်းမရှိပါ။

ကျွန်ုပ်၏ နောက်လိုက်တပည့်သားများသည် ဆင်းရဲနွမ်းပါးကြသည်မှန်၏။ ၎င်းတို့၏ ဆင်းရဲနွမ်းပါးမှုကို အကြောင်းပြု၍ အသင်တို့သည် ၎င်းတို့အား သေးနုပ်သိမ်ဖျင်းသူများဖြစ်သည်ဟု ထင်မှတ်ကြလိုက ထင်မှတ်ကြကုန်၊ သို့ရာတွင် အသင်တို့ ယုံကြည်ထားအပ်သည်မှာ ကျွန်ုပ်သည် 'အီမာန်' တည်းဟူသော ရတနာကို စွဲမြဲစွာ ဆုပ်ကိုင်ထားကြကုန်သော ဤဆင်းရဲသားမုအ်မင်န်တို့အား ၎င်းတို့၏ အပေါ်ယံ ဆင်းရဲနွမ်းပါးမှုကို ကြည့်ပြီး တိရစ္ဆာန်များပမာ ဘယ်သောအခါမျှ မိမိထံမှ နှင်ထုတ်မည်မဟုတ်။ ထိုမုအ်မင်န် ဆင်းရဲသားများသည် တနေ့သော် အလ္လာဟ် အရှင်မြတ်နှင့် တွေ့ကြမည်ဖြစ်သည်။ အကယ်တန္တ ကျွန်ုပ်သည် အသင်တို့ကို ထောက်ထားပြီး ၎င်းတို့အား နှင်ထုတ်မိခဲ့သော် ၎င်းတို့သည် အလ္လာဟ် အရှင်မြတ် အထံတော်၌ ➤➤

وَلَآ اَقُوۡلُ لَكُمۡ عِنۡدِىۡ خَزَآٮِٕنُ اللّٰهِ وَلَاۤ اَعۡلَمُ الۡغَيۡبَ وَلَاۤ اَقُوۡلُ اِنِّىۡ مَلَكٌ وَّلَاۤ اَقُوۡلُ لِلَّذِيۡنَ تَزۡدَرِىۡۤ اَعۡيُنُكُمۡ لَنۡ يُّؤۡتِيَهُمُ اللّٰهُ خَيۡرًا ؕ اَللّٰهُ اَعۡلَمُ بِمَا فِىۡۤ اَنۡفُسِهِمۡ ۖۚ اِنِّىۡۤ اِذًا لَّمِنَ الظّٰلِمِيۡنَ ۝٣١

၃၁။ ၎င်းပြင် ငါသည် မိမိထံတွင် အလ္လာဟ်အရှင်မြတ်၏ ဘဏ္ဍာတော်များရှိသည်ဟူ၍လည်းကောင်း၊ ငါသည် အကွယ်၌ရှိသောအရာအားလုံးကို သိသည်ဟူ၍လည်းကောင်း၊ အသင်တို့အား ပြောဆိုသည် မဟုတ်ပေ။ ထို့မှတစ်ပါး ဧကန်စင်စစ် ငါသည် ကောင်းကင်တမန်ဖြစ်သည်ဟူ၍လည်း ပြောဆိုသည် မဟုတ်ပေ။ ထို့ပြင် ငါသည် အသင်တို့၏အမြင်တွင် သေးသိမ်လျက်ရှိကြကုန်သောသူတို့နှင့် ပတ်သက်၍ ၎င်းတို့အား အလ္လာဟ်အရှင်မြတ်သည် ကောင်းမြတ်ခြင်းကို အလျင်း ချီးမြှင့်ပေးသနားတော်မူလိမ့်မည်မဟုတ် ဟူ၍လည်း ပြောဆိုသည်မဟုတ်ချေ။ ၎င်းတို့၏စိတ်နှလုံးတွင် ရှိသည်တို့ကို အလ္လာဟ်အရှင်မြတ်ပင် အသိဆုံးသောအရှင်မြတ်ဖြစ်တော်မူပေသည်။ ဧကန်မလွဲ ငါသည်ထိုကဲ့သို့(ပြောမိခဲ့ပါ)လျှင် မတရားသောသူတို့တွင် အမှန်ပင်အပါအဝင်ဖြစ်ပေမည်။ ၁

▶▶ ကျွန်ုပ်နှင့်ပတ်သက်၍ 'အို-အလ္လာဟ်အရှင်မြတ်၊ အရှင်မြတ်၏တမန်တော်သည် မောက်မာသော ဓနရှင်များကို ထောက်ထားပြီး သစ္စာရှိ ဆင်းရဲသား ကျွန်တော်မျိုးများအား နှင်ထုတ်ခဲ့ပါသည်' ဟု လျှောက်ထား တိုင်တန်းကြပေမည်။ ထိုသို့ တိုင်တန်းကြလျှင် ကျွန်ုပ်အား အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်တော်မှ မည်သူမျှ ကာကွယ်ပေးနိုင်မည်မဟုတ်ပေ။

(၂) ဤဝါကျကို အောက်ပါအတိုင်း နှစ်မျိုးနှစ်စားဖွင့်ဆိုကြသည်ကို တွေ့ရှိရသည်။

အဘယ့်ကြောင့်ဆိုသော် ထိုသူများသည် အလ္လာဟ်အရှင်မြတ်ထံတော်တွင် အပါးတော်၌ ချဉ်းကပ်ကြမည့်သူများ၊ အောင်မြင်သူများ ဖြစ်ကြပေသည်။ (ရှုဟ်)။

ထိုသူများသည် အလ္လာဟ်အရှင်မြတ်နှင့် တွေ့ဆုံကြမည်ကို ယုံကြည်ကြပေသည်။

(၁) တမန်တော်နူဟ်၏ အမျိုးသားများအနက် ကာဖိရ်များက တမန်တော်နူဟ်အား "အသင်သည် ကျွန်ုပ်တို့ကဲ့သို့ လူသားတစ်ဦးမျှဖြစ်သည်၊ ဥစ္စာဓနေ ကုံလုံကြွယ်ဝသည်လည်းမရှိ၊ ကျွန်ုပ်တို့ထက် တစ်စုံတစ်ရာ ပိုမိုထူးကဲသည်လည်း မရှိ" ဟု ပြောဆိုကြရာ တမန်တော်နူဟ်က ကာယိန္ဒြေရှိရှိဖြင့် အောက်ပါအတိုင်း မှန်ကန်တိကျစွာ ဖြေကြားတော်မူခဲ့လေသည်။

သဘောမှာ - အသင်တို့ လိုလားသည့် ထူးခြားချက်များ ကျွန်ုပ်၌ရှိသည်ဟု ကျွန်ုပ်မဆို၊ ကျွန်ုပ်သည် လူသားတစ်ဦးမျှ ဖြစ်သည်။ ကောင်းကင်တမန် မဟုတ်၊ အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်အား မိမိ၏ ဘဏ္ဍာတော်တိုက်အားလုံးကို ချယ်လှယ်သုံးစွဲရန် ပေးအပ်ထားတော်မူသည်လည်းမဟုတ်၊ အကွယ်၌ရှိသော▶▶

٣٢ قَالُوا يٰنُوحُ قَدْ جٰدَلْتَنَا فَأَكْثَرْتَ جِدٰلَنَا فَأْتِنَا بِمَا تَعِدُنَآ إِن كُنتَ مِنَ الصّٰدِقِينَ ﴿٣٢﴾

၃၂။ (ထိုအခါ အမျိုးသားများက ဤသို့) ပြောဆိုခဲ့ကြလေသည်။ အိုး-နူဟ်၊ ဧကန်မလွဲ အသင်သည် ကျွန်ုပ်တို့နှင့် အငြင်းအခုံ ပြုခဲ့လေသည်။ တဖန် အသင်သည် (ယင်းကဲ့သို့) ကျွန်ုပ်တို့နှင့် အငြင်းအခုံ ပြုခြင်းကို အလွန်များပြောင် (ကျယ်ပြန့်)စေခဲ့ပြန်၏။ သို့ဖြစ်ပေရာ အကယ်၍ အသင်သည် 'သစ္စာဝါဒီ မှန်ကန်စွာ ပြောဆိုသူဖြစ်ပါလျှင် ကျွန်ုပ်တို့အား ခြိမ်းခြောက်လျက်ရှိသော ပြစ်ဒဏ်ကို အသင်သည် ကျွန်ုပ်တို့ထံ ယူဆောင်ခဲ့လော့။ [၁]

➤➤ အရာအားလုံးတို့ကို ကျွန်ုပ်အား အသိပေးထားတော်မူသည်လည်း မဟုတ်။ ဤသည်တို့သည် အမှန်ပင် ဖြစ်သည်။ ကျွန်ုပ်အတိအလင်းပြောသည်။ သို့သော် အသင်တို့အထင်အမြင်သေးနေကြသော၊ သေးနုပ်သိမ်ဖျင်းသူများဟု အသင်တို့ထင်မှတ်နေကြသော မုအ်မင်န်ဆင်းရဲသားများနှင့် ပတ်သက်၍ ၎င်းတို့အား အလ္လာဟ်အရှင်မြတ်သည် ဘယ်သောအခါ၌မျှ မည်သည့်ကောင်းကျိုးချမ်းသာမှုကိုမျှ ပေးတော်မူမည်မဟုတ်ဟူ၍ကား ကျွန်ုပ်အလျင်းမဆို။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အနက် တစ်ဦးတစ်ယောက်ကို နဗီတမန်တော်အဖြစ် ချီးမြှင့်တော်မူ၍ ကျွန်ုပ်ဂိုလ်တို့အား အီမာန်ကိုချီးမြှင့်တော်မူနိုင်သည်။ ချီးမြှင့်၍ ထားတော်မူပြီးလည်း ဖြစ်သည်။

အသင်တို့ အထူးသတိထားအပ်သည်မှာ - အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ အတွင်းစိတ်ဓာတ်၊ အခြေအနေ၊ အရည်အချင်းတို့ကို ကောင်းစွာသိတော်မူသည်။ အရည်အချင်း ရှိသည်နှင့်အမျှ လျော်ကန်သင့်မြတ်သည့် အကျိုးများကိုလည်း ပေးသနားတော်မူသည်။ ထိုအရှင်မြတ်သည် ကျွန်ုပ်ကိုလည်းကောင်း၊ ကျွန်ုပ်၏ နောက်လိုက်တပည့်များကိုလည်းကောင်း၊ ထူးခြားသော ကျေးဇူးတော်ကို ချီးမြှင့်၍ထားတော်မူသည်။ သို့ရာတွင် အသင်တို့သည် ထိုကျေးဇူးတော်ကို မသိမြင်ကြချေ။ အသင်တို့ အပေါ်ယံကြည့်၍ အထင်အမြင်သေးနေကြသော သူများအား အတွင်းအပြင် အကြွင်းမဲ့သိတော်မူသော အလ္လာဟ်အရှင်မြတ်သည် တစ်စုံတစ်ရာ ဂုဏ်အင်ဒြပ် ချီးမြှင့်တော်မူမည်မဟုတ်ဟု ကျွန်ုပ် အကယ်တန္တု ပြောဆိုမိလျှင် ကျွန်ုပ်သည် မတရားသူဖြစ်သွားပေမည်။ ကျွန်ုပ်ကား ဤသို့အလျင်းမပြော။

(၁) တမန်တော် နူဟ်(အလိုင်ဟစ္စလာမ်)သည် ရေဘေးမသက်ရောက်မီ နှစ်ပေါင်း (၉၅၀)တိုင်တိုင် မိမိ၏ အမျိုးသားများနှင့် အတူတကွ နေထိုင်၍ ၎င်းတို့အား လျှို့ဝှက်စွာတစ်မျိုး အတည့်အလင်းတစ်ဖုံ နည်းမျိုးစုံဖြင့် နေ့ညဥ့်မပြတ် သွန်သင်ဆုံးမ ဩဝါဒပေးတော်မူခဲ့၏။ အမျိုးသားများ၏ ဒွိဟသံသယများကိုလည်း ပြေလည်အောင် ဖြေရှင်းပေးတော်မူခဲ့၏။ ယင်းသို့ သွန်သင်ဆုံးမ ဩဝါဒပေးတော်မူရာတွင် နှစ်ပရိစ္ဆေဒ အတော်ကြာညောင်းခဲ့၏။ နောက်ဆုံးတွင် ထိုအမျိုးသားများအနက် ကာဖိရ်များက 'အိုး-နူဟ်၊ အသင်သည် ကျွန်ုပ်တို့နှင့် အငြင်းအခုံ ပြုခဲ့ချေပြီ၊ အငြင်းအခုံလည်း အမြောက်အမြား ပြုခဲ့ချေပြီ၊ သို့ဖြစ်ရာ အသင်မှန်ကန်သူဖြစ်လျှင် အသင် ကျွန်ုပ်တို့အား ခြိမ်းခြောက်သည့်ပြစ်ဒဏ်ကို ကျွန်ုပ်တို့ထံယူဆောင်လာပါလေ'ဟု ပြောဆိုကြလေသည်။ တမန်တော်၏အဖြေကို ရှေ့လာလတ္တံ့သော အာယတ်တော်တွင် မိန့်ကြားမိန့်ဆိုထားတော်မူသည်။

قَالَ اِنَّمَا يَاْتِيْكُمْ بِهِ اللّٰهُ اِنْ شَآءَ وَمَآ اَنْتُمْ بِمُعْجِزِيْنَ ﴿٣٣﴾

၃၃။ (နဗီတမန်တော် နူဟ်သည် ဤသို့)ပြောဆို ပြန်ကြားခဲ့လေသည်။ (အချင်းတို့) အကယ်၍ ထိုအရှင်မြတ်သည် အလိုရှိတော်မူခဲ့ပါလျှင် ထိုပြစ်ဒဏ်ကို အသင်တို့ထံ အလ္လာဟ်အရှင်မြတ်သည်သာလျှင် ယူလာတော်မူပေမည်။စင်စစ်သော်ကားအသင်တို့သည် (ထိုအရှင်မြတ်အား ပြစ်ဒဏ်ယူလာတော်မူခြင်းကို) မစွမ်းဆောင်နိုင်အောင်ပြုနိုင်သူများမဟုတ်ကြချေ။ [၁]

وَلَا يَنْفَعُكُمْ نُصْحِيْٓ اِنْ اَرَدْتُّ اَنْ اَنْصَحَ لَكُمْ اِنْ كَانَ اللّٰهُ يُرِيْدُ اَنْ يُّغْوِيَكُمْ هُوَ رَبُّكُمْ وَاِلَيْهِ تُرْجَعُوْنَ ﴿٣٤﴾

၃၄။ စင်စစ်မှာမူကား အကယ်၍ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား လမ်းမှားစေတော်မူရန် ရည်စူးတော်မူခဲ့ပါလျှင် ငါသည် အသင်တို့အဖို့ (မည်မျှပင်) ကောင်းကျိုးဆောင်ရန် ရည်စူးသော်ငြားလည်း ငါ၏ ကောင်းကျိုးဆောင်မှုသည် အသင်တို့အား အကျိုးဖြစ်စေနိုင်လိမ့်မည်မဟုတ်ပေ။ [၂] ထိုအရှင်မြတ်သည်ပင် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်ဖြစ်တော်မူ၏။ တဖန် အသင်တို့သည် ထိုအရှင်မြတ်အထံတော်သို့ပင် ပြန်ကြရကုန်အံ့။

---

(၁) ထိုအခါ တမန်တော်နူဟ်က ပြစ်ဒဏ်ပေးခြင်းသည် ကျွန်ုပ်၏ လက်တွင်း၌မရှိ ပြစ်ဒဏ်သက်ရောက်စေခြင်း၊ သက်ရောက်အံ့သောပြစ်ဒဏ်ကို ဖယ်ရှားခြင်းများသည် လူသားတို့၏လက်တွင်း၌ အလျင်းမရှိ၊ အလ္လာဟ်အရှင်မြတ်၏လက်တွင်း၌သာ ရှိပေသည်။ ကျွန်ုပ်၏တာဝန်မှာ သတိပေးနှိုးဆော်ရန်ပင် ဖြစ်သည်။ ထိုအရှင်မြတ်သည် အလိုတော်ရှိပါလျှင် ထိုပြစ်ဒဏ်ကို အသင့်တို့ထံ မုချသက်ရောက်စေတော်မူမည်ဖြစ်သည်။ ထိုအခါ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ထိုပြစ်ဒဏ်ကိုသက်ရောက်စေတော်မူခြင်း မပြုနိုင်ရန် မည်သို့မျှ ပြုစွမ်းနိုင်ကြမည် အလျင်းမဟုတ်ကြပေဟု ဖြေကြားတော်မူလေသည်။ (ဝါ) အသင်တို့အနက် ထိုပြစ်ဒဏ်တော်မှ မည်သူမျှ လွတ်မြောက် နိုင်ကြမည်လည်း မဟုတ်ပေ။ ထို ပြစ်ဒဏ်တော်ကို ကာကွယ်နိုင်ကြ မည်လည်း မဟုတ်ပေ။

(၂) တမန်တော်နူဟ်၏ အမျိုးသားများအနက် ကာဖိရ်များသည် မောက်မာပလွှားခဲ့ကြ၏။ ကုဖ်ရ်ကိုပင် လက်မလွှတ်တမ်း ဆုပ်ကိုင်ထားခဲ့ကြ၏။ ကုဖ်ရ်တွင်နစ်မွန်း၍ နေခဲ့ကြ၏။ ဤသည့်အချက်များကို ထောက်ရှုခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား လမ်းမှားမှုတွင်ပင် နေစေတော်မူပြီး၊ နောက်ဆုံးတွင် လုံးဝဖျက်ဆီးပစ်တော်မူရန် ရည်ရွယ်တော်မူကြောင်း သိရှိရပေသည်။ ထို့အတွက် တမန်တော်နူဟ်က မိမိ၏အမျိုးသားများအား "အသင်တို့၏ ဆိုးသွမ်းမှု၊ မိုက်မဲမှုများကြောင့် အလ္လာဟ်အရှင်မြတ်သည် ➤➤

أَمْ يَقُولُونَ افْتَرَاهُ قُلْ إِنِ افْتَرَيْتُهُ فَعَلَيَّ إِجْرَامِي وَأَنَا بَرِيءٌ مِّمَّا تُجْرِمُونَ ﴿٣٥﴾

၃၅။ ၎င်းတို့က ထို(နဗီတမန်တော် မုဟမ္မဒ်)သည် ယင်း(ကုရ်အာန်)ကို လီဆယ်ဖန်တီးခဲ့သည်ဟု ပြောဆိုကြလေသလော။ [၁] (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောဆိုဖြေကြားပါလေ။ (အချင်းတို့) ထိုသို့ဖြစ်ခဲ့ပါမူ ငါ၏အပြစ်သည် ငါ၏အပေါ်၌သာလျှင် ရှိပေမည်။ သို့ရာတွင် ငါသည် အသင်တို့ ကျူးလွန်လျက်ရှိကုန်သော ပြစ်မှုများမှ လွတ်ကင်းသူဖြစ်သည်။

وَأُوحِيَ إِلَىٰ نُوحٍ أَنَّهُ لَن يُؤْمِنَ مِن قَوْمِكَ إِلَّا مَن قَدْ آمَنَ فَلَا تَبْتَئِسْ بِمَا كَانُوا يَفْعَلُونَ ﴿٣٦﴾

၃၆။ ထို့ပြင် (နဗီတမန်တော်)နူဟ်ထံ (ဤသို့) အမိန့်တော်ထုတ်ပြန်ခြင်းခံခဲ့ရလေသည်။ (အို-နူဟ်) ဧကန်စင်စစ် အသင်၏အမျိုးသားတို့သည် (၎င်းတို့အနက်) အီမာန်သက်ဝင်ယုံကြည်ပြီးဖြစ်သောသူတို့မှ တစ်ပါး အီမာန်သက်ဝင်ယုံကြည်ကြတော့မည် မဟုတ်ပေ။ သို့ဖြစ်ပေရာ အသင်သည် ၎င်းတို့ပြုလုပ်လျက်ရှိကုန်သော ပြစ်မှုများနှင့်စပ်လျဉ်း၍ ပူပင်သောက မဖြစ်ပါလေနှင့်။ [၂]

---

➤➤ အသင်တို့အား လမ်းမှားမှတွင်ပင် နေစေတော်မူပြီး နောက်ဆုံးတွင် လုံးဝဖျက်ဆီးပစ်တော်မူရန် ရည်စူးတော်မူထားပါလျှင် ကျွန်ုပ်သည် အသင်တို့အား အဘယ်မျှပင် သွန်သင်ဆုံးမသြဝါဒပေး၍ အသင်တို့၏ ကောင်းကျိုးချမ်းသာကို လိုလားပါသော်လည်း ကျွန်ုပ်၏ သွန်သင်ဆုံးမပဲ့ပြင်ခြင်းသည် အသင်တို့အား မည်သို့မျှ အကျိုးဖြစ်ထွန်းစေမည် မဟုတ်' ဟု ပြောကြားတော်မူလိုက်လေသည်။

(၁) ဤအာယတ်တော် (၁၁:၃၅)တွင် မက္ကာမြို့သား ကာဖိရ်များက တမန်တော်မြတ်အား ဤကုရ်အာန်သည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်မဟုတ်၊ အသင်လီဆယ်ဖန်တီးထားသော အရာသာဖြစ်သည်ဟု စွပ်စွဲပြောဆိုခဲ့ကြသည်။

တမန်တော် နူဟ်သည် ကျမ်းဂန် ယူလာတော် မူခဲ့သည်မရှိ၊ ထို့အတွက် တမန်တော်နူဟ်၏ အမျိုးသားများအဖို့ ယင်းသို့ စွပ်စွဲပြောဆိုရန် အကြောင်းမပေါ်ပေါက်ခဲ့ပေ။ ကြည့်-မူဖ္ဖိဟုလ်ကုရ်အာန်။

သို့ရာတွင် အချို့ မုဖက်စ်စီရီန်က ဤအာယတ်တော် (၁၁:၃၅)သည်လည်း တမန်တော်နူဟ်၏ အကြောင်း၏ အစိတ်အပိုင်းဖြစ်သည်ဟု ယူဆကြသည်။ ဆိုလိုသည်ကား တမန်တော်နူဟ်၏ အမျိုးသားများက တမန်တော်နူဟ်အား အလ္လာဟ်အရှင်မြတ်၏ဒေသနာတော်များ အာယတ်တော်များ ဖြစ်သည်ဟူ၍ အသင်ဟောကြားနေသော စကားများသည် အသင်၏စကားများသာ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များမဟုတ်ဟု စွပ်စွဲပြောဆိုခဲ့ကြသည်။ ➤➤

وَاصْنَعِ الْفُلْكَ بِأَعْيُنِنَا وَوَحْيِنَا وَلَا تُخَاطِبْنِي فِي الَّذِينَ ظَلَمُوا ۚ إِنَّهُم مُّغْرَقُونَ ﴿٣٧﴾

၃၇။ ၎င်းပြင်အသင်သည် ငါအရှင်မြတ်၏ မျက်စိအောက်တွင် ငါအရှင်မြတ်၏အမိန့်တော်အရ သင်္ဘောကို ပြုလုပ်တည်ဆောက်ပါလေ။ ၎င်းပြင် အသင်သည် (မိမိတို့ကိုယ်ကို မိမိတို့ပင်) နှိပ်စက်ကလူပြုကုန်သော သူတို့နှင့်ပတ်သက်၍ ငါအရှင်မြတ်အထံတော်တွင် လျှောက်ထားပန်ကြားခြင်း မပြုပါလေနှင့်။ စင်စစ် ၎င်းတို့သည် နစ်မြုပ်ကြရမည့်သူများပင် ဖြစ်ကြကုန်သတည်း။ [၁]

➢➢ အချို့မုဖတ်စ်စီရီန်က–ဤအာယတ်တော် (၁၁း ၃၅)သည် မက္ကာမြို့သား ကာဖိရ်များကို ရည်ညွှန်း မိန့်ဆိုထားတော်မူသော အာယတ်တော်ဖြစ်သည်။ သို့ရာတွင် တမန်တော်နူဟ်၏ အမျိုးသားများ၏ အကြောင်းနှင့် ကား ဆက်စပ်လျက်ရှိသည်ဟု ဆိုကြသည်။ ဆိုလိုသည်ကား– မက္ကာမြို့သား ကာဖိရ်များက တမန်တော်မြတ်အား 'တမန်တော်နူဟ်၏ အမျိုးသားများ၏ အကြောင်းဟူ၍ အသင် ထုတ်ဖော်ပြောဆိုသော စကားများသည် အသင်၏စကားများသာ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်မဟုတ် အခြေအမြစ်မရှိဟု စွပ်စွဲပြောဆိုကြသည်ဟူ၏။

(၂) တမန်တော်နူဟ်သည် မိမိ၏အမျိုးသားများအား နှစ်ပရိစ္ဆေဒ မြောက်မြားစွာ သွန်သင်ဆုံးမ ဩဝါဒ ပေးတော်မူခဲ့၏။ မိမိ၏ အမျိုးသားများ၏ ကျူးကျော်စော်ကားမှု ဒဏ်ကိုလည်း အကြီးအကျယ် ခံစားတော်မူခဲ့၏။ သို့ရာတွင် နောက်ဆုံး၌ ယင်းအမျိုးသားများ၏ စော်ကားမှုများသည် မခံမရပ်နိုင်သည်အထိ ဖြစ်လာသောအခါ တမန်တော်နူဟ်သည် ကုရ်အာန်ကျမ်းမြတ် (၅၄း၁၀)တွင် လာရှိသည့်အတိုင်း 'ကျွန်တော်မျိုးသည် လွှမ်းမိုးခြင်း ခံနေရပါပြီ၊ လက်စားချေတော်မူပါ' ဟု အလ္လာဟ်အရှင်မြတ်ထံ ဆုပန်ကြားလေတော့သည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်က တမန်တော်နူဟ်အား အသင်၏ အမျိုးသားများအနက် အီမာန် ယုံကြည်မည့်သူများသည် ယုံကြည်ပြီးကြပြီ၊ ယခုအချိန်အထိ အီမာန်ယုံကြည်ပြီးသော သူများမှတစ်ပါး အခြားအီမာန် ယုံကြည်မည့်သူ တစ်ဦးတစ်ယောက်မျှ မရှိတော့ပေ။

ထို့အတွက် အသင်သည် ထိုအမျိုးသားများ၏ ရန်ငြိုးဖွဲ့မှု၊ ရန်မူမှု၊ မုန်းတီးမှု၊ စော်ကားမှုအတွက်ကြောင့် ပူပန်သောက ဖြစ်ရန်မလို၊ ငါအရှင်မြတ်သည် မကြာမီအတွင်း ၎င်းတို့အား လက်စားချေတော်မူအံ့။ သုတ်သင် ရှင်းလင်းတော်မူအံ့ဟု ဖြေကြားတော်မူလေသည်။

(၁) အလ္လာဟ်အရှင်မြတ်က တမန်တော်နူဟ်အား ငါအရှင်မြတ်၏ ရှေ့တော်မှောက်တွင် (ဝါ) ငါအရှင်မြတ်၏ ထိန်းသိမ်းစောင့်ရှောက် ကြည့်ကြပ်မှုဖြင့် ငါအရှင်မြတ်၏ အမိန့်တော်နှင့်အညီ သင်္ဘောတည်ဆောက်ရန်ဟူ၍ အမိန့်ပေးတော်မူလေသည်။ အဘယ်ကြောင့်ဆိုသော် မကြာမီအတွင်း ရေဘေးကြီး ဆိုက်ရောက်တော့မည်ဖြစ်သည်။ ထိုရေဘေးကြီးတွင် တမန်တော်နူဟ်အား သွေဖည်ငြင်းဆန်၍ ဒေသနာတော်ကို မနာခံသော သူယုတ်မာ အားလုံးတို့သည် သေကြေပျက်စီးကြရတော့မည်ဖြစ်သည်။ ဤသည် ပြဋ္ဌာန်းပြီးဖြစ်သည်။ ထို့နောက် အလ္လာဟ် အရှင်မြတ်က တမန်တော် နူဟ်အား ကျူးကျော်စော်ကားသူများနှင့် ပတ်သက်၍ တစ်စုံတစ်ရာ မပန်ကြားရန် ကြိုတင်မြစ်တားထားတော်မူခဲ့လေသည်။ ➢➢

وَيَصْنَعُ الْفُلْكَ وَكُلَّمَا مَرَّ عَلَيْهِ مَلَأٌ مِّن قَوْمِهِ سَخِرُوا مِنْهُ ۚ قَالَ إِن تَسْخَرُوا مِنَّا فَإِنَّا نَسْخَرُ مِنكُمْ كَمَا تَسْخَرُونَ ﴿٣٨﴾

၃၈။ ထို့နောက် ထို (နဗီတမန်တော် နူဟ်)သည် သင်္ဘောကို ပြုလုပ်တည်ဆောက်လေ၏။ ၎င်းပြင်၊ ထို(နဗီတမန်တော်နူဟ်)၏ အမျိုးသားတို့အနက်မှ လူတစ်စုသည် ထို(နဗီတမန်တော်နူဟ်)ထံ ဖြတ်သန်းသွားလာကြတိုင်း ထို(နဗီတမန်တော်နူဟ်)အား ပြက်ရယ်ပြုလှောင်ကြကုန်၏။ ထိုအခါ (နဗီတမန်တော်နူဟ်)က အကယ်၍သင်တို့သည် ငါတို့အား ပြက်ရယ်ပြုကြပါလျှင် ကျွန်ုပ်တို့သည်လည်း အသင်တို့အား အသင်တို့ ပြက်ရယ်ပြုကြသကဲ့သို့ပင် ပြက်ရယ်ပြုကြပေမည် ဖြစ်သတည်း။ ၁

---

➢➢ တမန်တော် အီဗ်ရာဟီမ်သည်လည်း တမန်တော်လူတ္ဂ်၏ အမျိုးသားတို့အပေါ်သို့ ပြစ်ဒဏ်တော်သက်ရောက်အံ့ဆဲဆဲ အချိန်တွင် ဝင်ရောက်လျှောက်ထား ပန်ကြားခဲ့ရာ တမန်တော်အီဗ်ရာဟီမ်အားလည်း ဤသို့ပင် မပန်ကြားရန် မြစ်တားတော်မူခဲ့လေသည်။ ကြည့်-ကုရ်အာန် (၁၁:၆၉-၇၆)။

နဆွဲရာနီ သုတေသီများ၏ လေ့လာဆည်းပူးချက်အရ ဤသင်္ဘော၏အလျားမှာ (၅၂၅)ပေ၊ အနံ ၈၇-နှစ်ပိုင်း တစ်ပိုင်းပေ၊ အမြင့် ၅၂-နှစ်ပိုင်းတစ်ပိုင်းပေဖြစ်သည်။

အေမာမ်ရာဇီသခင်က ထုတ်ဖော်ရေးသားထားသည်မှာ ဤသင်္ဘော၏ အလျားအနံ၊ အနိမ့်၊ အမြင့်၊ ပုံပန်းသဏ္ဍာန်နှင့် စပ်လျဉ်း၍ အသေးစိတ် လေ့လာဆည်းပူးခြင်းသည် အချည်းအနှီးမျှ ဖြစ်ပေသည်။ ထိုသင်္ဘောတွင် ထိုခေတ်ထိုအခါရှိ မုအ်မင်န်များနှင့် တင်ဆောင်ရမည့်တိရစ္ဆာန် တစ်စုံစီအတွက် နေရာရှိသည်။ ကုရ်အာန်ကျမ်းမြတ်တွင်လည်း ဤမျှပင်ပါရှိပေသည်။ မုအ်မင်န်တစ်ဦး သိရှိရန်အတွက် ဤမျှပင် လုံလောက်ပေသည်။

ကြည့်-ကဗီရ်

ရူဟုလ်မအာနီ ကျမ်းရှင်ကလည်း ဤအတိုင်းပင် ထုတ်ဖော်ရေးသားထားသည်။

မာဂျိဒီ။အ-၃။ စ-၄၆၆။ အအ-၅၂။

(၁) တမန်တော်နူဟ်သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ သင်္ဘောစတင်ဆောက်လုပ်တော်မူသည်ကို တမန်တော်နူဟ်၏ အမျိုးသားများအနက် ကာဖိရ်အကြီးအကဲများက တွေ့မြင်ကြသောအခါ ပြက်ရယ်သည့်သဘောဖြင့် 'သြော်၊ နူဟ်သည် တမန်တော်အဖြစ်မှ ဗိသုကာဖြစ်ချေပြီဟု ဆိုကြ၏။ တစ်ခါတစ်ရံ အံ့ဖွယ်ရာတစ်ခုဆောက်လုပ်နေသည်ကို တွေ့မြင်ကြသောအခါ တမန်တော်နူဟ်အား 'အသင်ဘာဆောက်လုပ်နေသလဲ' ဟု မေးကြ၏။ တမန်တော်နူဟ်က ကျွန်ုပ်အိမ်ဆောက်လုပ်နေသည်၊ ဤအိမ်သည်ရေပေါ်၌ သွားမည်၊ ရေနစ်မြုပ်ခြင်းမှ ကာကွယ်ပေးမည်' ဟု ဖြေကြားတော်မူ၏။ ဤသည့်အဖြေကို ကြားကြသောအခါ ယင်းကာဖိရ် အကြီးအကဲများသည် သြော်-ကုန်းမြေပြင်ပေါ်၌ ရေနစ်မည်စိုးသဖြင့် ကြိုတင်ကာကွယ်မှုများ ပြုလုပ်နေသည်ဟု ပြောဆိုကာ ပြက်ရယ်ကြလေ၏။ တမန်တော် နူဟ်က 'အသင်တို့သည် ငါတို့အား ပြက်ရယ်ကြလျှင် ငါတို့လည်း အသင်တို့အား အသင်တို့ ပြက်ရယ်ကြသကဲ့သို့ ပြက်ရယ်ကြမည်' ဟု ဖြေကြားတော်မူခဲ့လေသည်။

فَسَوْفَ تَعْلَمُوْنَ مَنْ يَّاْتِيْهِ عَذَابٌ يُّخْزِيْهِ وَيَحِلُّ عَلَيْهِ عَذَابٌ مُّقِيْمٌ ﴿٣٩﴾

၃၉။ သို့ဖြစ်ပေရာ မည်သူ့ထံထိုသူအား (ဤပစ္စက္ခ ဘဝ၌) *အရှက်တကွဲ အကျိုးနည်းဖြစ်စေသောပြစ်ဒဏ်* သည် [၁] ရောက်လာမည်ကို လည်းကောင်း၊ ထိုသူ အပေါ် (နောင်တမလွန်ဘဝ၌ ထာဝစဉ်တည်မြဲသော ပြစ်ဒဏ်သက်ရောက်မည်ကိုလည်းကောင်း၊ အသင်တို့ သည် မကြာမြင့်မီပင် သိရှိကြပေမည်။

حَتّٰۤى اِذَا جَآءَ اَمْرُنَا وَفَارَ التَّنُّوْرُ قُلْنَا احْمِلْ فِيْهَا مِنْ كُلٍّ زَوْجَيْنِ اثْنَيْنِ وَاَهْلَكَ اِلَّا مَنْ سَبَقَ عَلَيْهِ الْقَوْلُ وَمَنْ اٰمَنَ ؕ وَمَاۤ اٰمَنَ مَعَهٗۤ اِلَّا قَلِيْلٌ ﴿٤٠﴾

၄၀။ အဆုံးတွင် ငါအရှင်မြတ်၏ အမိန့်တော်သည် ရောက်ရှိလာခဲ့ရာ မုန့်ဖိုသည် ဆူပွက်လာသည်။ [၂] (ထိုအခါ) ငါအရှင်မြတ်သည် (နဗီတမန်တော်နူဟ် အား ဤသို့)မိန့်ကြားတော်မူခဲ့လေသည်။ (အို-နဗီ တမန်တော်နူဟ်) အသင်သည် *အမျိုးအစား အသီးသီး* တို့မှ [၃] တစ်စုံစီကိုလည်းကောင်း၊ မိမိအိမ်သူအိမ်သား တို့အနက် အကြင်သူမှတစ်ပါး ထိုသူနှင့်ပတ်သက်၍ အမိန့်တော်ထုတ်ပြန်ခဲ့ပြီးဖြစ်၏။ [၄] ကျန်အိမ်သူအိမ် သားတို့ကိုလည်းကောင်း၊ အီမာန် သက်ဝင်ယုံကြည် ခဲ့သောသူတို့အားလည်းကောင်း၊ ထိုသင်္ဘောပေါ်သို့ တင်ဆောင်ပါလေ။ စင်စစ်သော်ကား ထို(နဗီတမန် တော်နူဟ်)နှင့်အတူ အနည်းငယ်မျှသော သူတို့သာ လျှင် သက်ဝင်ယုံကြည်ခဲ့ကြကုန်သတည်း။

---

(၁) အရှက်တကွဲ အကျိုးနည်း ဖြစ်စေမည့် ပြစ်ဒဏ်ဟူသည် ဤပစ္စက္ခဘဝ၌ တွေ့ကြုံခံစားရမည့် ရေဘေးကြီးကို ဆိုလိုသည်။ အမြဲထာဝစဉ် ခံစားရမည့် ပြစ်ဒဏ်ဟူသည် နောင်တမလွန်ဘဝတွင် ခံစားရမည့် ဂျဟန္နမ် ငရဲ၏ ပြစ်ဒဏ်ကို ဆိုလိုသည်။

(၂) 'တန်နူရ်' ဟူသော ပုဒ်နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း အဆိုအမျိုးမျိုး တွေ့ရှိရပေသည်။

၁။ မြေ၏မျက်နှာ၊ မြေမျက်နှာပြင်။

၂။ နံနက်မိုးလင်းခြင်း။

၃။ မြေ၏အကောင်းဆုံး၊ အမြင့်ဆုံးနေရာ။

၄။ မုန့်ဖုတ်သည့်မုန့်ဖို။

အီဗ်နုဂျရီရ် ကျမ်းရှင်သည် မုန့်ဖိုဟူသောအနက်ကို ပို၍ နှစ်ခြိုက်ပေသည်။ 

وَقَالَ ارْكَبُوا فِيهَا بِسْمِ اللَّهِ مَجْرَاهَا وَمُرْسَاهَا ۚ إِنَّ رَبِّي لَغَفُورٌ رَّحِيمٌ ﴿٤١﴾

၄၁။ ထို့နောက် ထို(နဗီတမန်တော်နူဟ်)က (မိမိအိမ်သူအိမ်သားများနှင့် မုအ်မင်န်သက်ဝင်ယုံကြည်သူတို့အား အချင်းတို့) အသင်တို့သည် ထိုသင်္ဘောပေါ်သို့ စီးနင်းကြလေကုန်။ ထိုသင်္ဘော၏ သွားလာလှုပ်ရှားမှုသည်လည်းကောင်း၊ ထိုသင်္ဘောဆိုက်ကပ်(ရပ်ဆိုင်း)၍ နေခြင်းသည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့်သာ ဖြစ်ပေသည်။ ၁

---

➤➤ ( وَفَارَ التَّنُّورُ ) ဟူသော ဝါကျနှင့် စပ်လျဉ်း၍ သာဝကကြီး အီဗ်နုအဗ္ဗာစ်ထံမှတဆင့် ကြားသိရသည်မှာ "တန်နူရ်" ဟူသည် မြေမျက်နှာပြင်ကို ဆိုလိုသည်။ ဆိုလိုသည်ကား မြေမျက်နှာပြင်သည် အင်းအိုင် ရေကန်များဖြစ်၍ ရေများပန်းထွက်လာ၏။ မီး၏နေရာဖြစ်သော မုန့်ဖိုများမှပင် ရေများ ပန်းထွက် လာလေတော့သည်။ ဤသည် အတိတ်ခေတ်အာလင်မ်ပညာရှင်များ နောက်ခေတ်ရှိ အာလင်မ်ပညာရှင်များ၏ အဆိုပင်ဖြစ်သည်။ သာဝကကြီး အလီသခင်ထံမှ ကြားသိရသော အဆိုတစ်ရပ်မှာကား-'တန်နူရ်' ဟူသည် နံနက် မိုးသောက်ခြင်းကိုဆိုသည်။ သို့ရာတွင် ပဌမအဆိုသည် ပိုမိုထင်ရှားပေသည်။

အီဗ်နုကဆီရ်။ အ-၂။ စ-၄၄၅။

② ရေဘေးကြီး ဆိုက်ရောက်ရန် နိမိတ်လက္ခဏာများ ထင်ရှားပေါ်ပေါက်လာသည့်အခါ အလ္လာဟ်အရှင်မြတ်က တမန်တော်နူဟ်အား သင်္ဘောပေါ်တွင် တိရစ္ဆာန်အားလုံးတို့အထဲမှ ဖိုမတစ်စုံစီတင်ဆောင်ရန် အမိန့်ပေးတော်မူလေသည်။ ဤအမိန့်တော်တွင် ပါရှိသော တိရစ္ဆာန်အားလုံးတို့အထဲမှ ဟူသည် ကုန်းနေ၊ ရေနေ၊ လေနေသတ္တဝါအမျိုးအစားအားလုံးကို ဆိုလိုသည်မဟုတ်၊ ကုန်းနေသတ္တဝါများကိုသာ ဆိုလိုသည်။ ကုန်းနေသတ္တဝါများမှလည်း လူ့သဘာဝအလျောက် လူသားတို့အဖို့ အသုံးဝင်သော အကျိုးရှိသော တိရစ္ဆာန်များကိုသာ ဆိုလိုသည်။

④ အလ္လာဟ်အရှင်မြတ်က တမန်တော်နူဟ်အား သင်္ဘောပေါ်တွင် လိုအပ်သော တိရစ္ဆာန်တစ်စုံစီကို လည်းကောင်း၊ မိမိ၏ အိမ်သူအိမ်သားများကိုလည်းကောင်း၊ အီမာန်ယုံကြည်သော သူများကိုလည်းကောင်း၊ တင်ဆောင်ရန် အမိန့်ပေးတော်မူခဲ့၏။ သို့ရာတွင် အိမ်သူအိမ်သားများကို တင်ဆောင်ရန် အမိန့်ပေးတော်မူရာ၌ 'သို့ရာတွင် အကြွင်းသူများကိုမူ (မတင်ဆောင်ရ) ၎င်းနှင့်ပတ်သက်၍ အမိန့်တော် အတည်ဖြစ်ပြီး ဖြစ်သည်' ဟူ၍ ချွင်းချက်ကား ရှိလေသည်။ ထိုသူများကား အခြားမဟုတ်၊ တမန်တော်နူဟ်၏သား ယာမ်နှင့် တမန်တော်နူဟ်၏ ကြင်ရာဝါအိလဟ်တို့ဖြစ်သည်။ ယာမ်၏ ဘွဲ့နာမည်မှာ 'ကင်န်အာန်' ဟူ၍ ဖြစ်သည်။ ဤသူ ၂-ဦးသည် အိမ်သူအိမ်သားများတွင် အပါအဝင် ဖြစ်ခဲ့ကြသော်လည်း အီမာန်မယူခဲ့ကြသည့်အတွက် ရေနစ်သေကြေပျက်စီးသွားခဲ့ကြလေသည်။

① တမန်တော်နူဟ်သည် သင်္ဘောတည်ဆောက်၍ တင်ဆောင်ရန်ရှိသော တိရစ္ဆာန်အသီးသီးတို့ကို တင်ဆောင်ပြီးသည့်အခါ မိမိ၏နောက်လိုက်တပည့်သားတို့အား အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် သင်္ဘောပေါ်၌ စီးနင်းလိုက်ပါကြကုန်။ စိုးရိမ်ဖွယ်မရှိ။ အဘယ်ကြောင့်ဆိုသော် ဤသင်္ဘောသွားလာလှုပ်ရှားမှု၊ ဆိုက်ကပ်မှုတို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်၊ ထိုအရှင်မြတ်၏ နာမံတော်၏ တန်ခိုးတော်ဖြင့်သာ ဖြစ်သည်။ ရေနစ်မည်ကို စိုးရိမ်ရန်မလိုပေ၊ ကျွန်ုပ်၏အရှင်သခင်သည် မုအ်မင်န်တို့၏ချို့တဲ့မှုများကို ➤➤

ဧကန်မလွဲ ငါ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အမှန်ပင် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့်ပေးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာညှာတာတော်မူသော အရှင်မြတ်ပင်။

وَهِيَ تَجْرِيْ بِهِمْ فِيْ مَوْجٍ كَالْجِبَالِ وَنَادٰى نُوْحُ ٳبْنَهٗ وَكَانَ فِيْ مَعْزِلٍ يّٰبُنَيَّ ارْكَبْ مَّعَنَا وَلَا تَكُنْ مَّعَ الْكٰفِرِيْنَ ﴿٤٢﴾

၄၂။ ၎င်းနောက် ထိုသင်္ဘောသည် ၎င်းတို့အား တင်ဆောင်၍ တောင်ကြီးများပမာ ကြီးမားလှသော လှိုင်းတံပိုး၏ကြား၀ပ်တွားလျက်ရှိပေသည်။ ထို့ပြင် (နဗီတမန်တော်)နူဟ်သည် မိမိ၏သား (ကင်န်အာန်) အား ဟစ်ခေါ်ခဲ့လေသည်။ စင်စစ် ထိုသားသည် အဝေး၌ပင်ရှိနေခဲ့လေသည်။ (သို့ဖြစ်ပေရာ နဗီတမန်တော်နူဟ်သည် ၎င်းအား) အို-ချစ်သား အသင်သည်ငါတို့နှင့်အတူ (သင်္ဘောပေါ်သို့) စီနင်းခဲ့ပါလေ။ ၎င်းပြင် အသင်သည် ကာဖိရ် မယုံမကြည် သွေဖည်ငြင်းပယ်ကုန်သော သူတို့နှင့် အတူမနေရစ်လေနှင့် (ဟု ဟစ်အော်ပြောဆိုခဲ့လေသတည်း။) [၁]

➤➤ အလွန်တရာမျှ ချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ အလွန်တရာမျှ သနားကြင်နာ ညှာတာတော်မူသောအရှင် ဖြစ်တော်မူသည်။

ထိုအရှင်သည် မိမိ၏ ကျေးဇူးတော်ဖြင့် ကျွန်ုပ်တို့အား အေးချမ်းသာယာစွာ ဆိုက်ကပ်ပေးတော်မူမည်ဖြစ်သည် ဟူ၍ ပြောကြားတော်မူခဲ့လေသည်။

သင်္ဘောစသည်တို့အပေါ်သို့ စီးနင်းလိုက်ပါသည့်အချိန်တွင် 'ဗစ်မိလ္လာဟ်'ရွတ်ဆိုအပ်သည်ဟူသော သာသနာ့အဆုံးအမသည် ဤအာယတ်တော်မှပင် ထွက်ပေါ်လာခဲ့ပေသည်။

(၁) တမန်တော်နူဟ်၏ သားတစ်ဦးဖြစ်သော ယာမ် (ကင်န်အာန်)သည် မိမိ၏ဖခင်၊ ညီနောင်များ၊ အိမ်သူအိမ်သားများနှင့် ကင်းကွာပြီး ကာဖိရ်များနှင့် ပေါင်းသင်းဆက်ခံ၍ နေထိုင်ခဲ့၏။ တမန်တော်နူဟ်သည် သင်္ဘောပေါ်သို့ တက်သည့်အချိန်တွင် ထိုသားကို 'အို-ငါ၏ချစ်သား၊ ကာဖိရ်သူယုတ်တို့နှင့်အတူ အသင် မနေရစ်ခဲ့ပါနှင့် ငါတို့နှင့်အတူ သင်္ဘောပေါ်သို့ စီးနင်းလိုက်ပါခဲ့ပါ' ဟု အသံပြုရှာခဲ့လေသည်။

**မှတ်ချက်။**

တမန်တော်နူဟ်သည် မိမိ၏သား ကင်န်အာန်အား ယင်းကဲ့သို့အသံပြုခြင်းမှာ (က) ထိုသားကို မုအ်မင်န်ဟူ၍ပင် ထင်မှတ်ပြီး အသံပြုခြင်းလည်း ဖြစ်နိုင်ပေသည်။ သို့မဟုတ် (ခ) ထိုသား ကာဖိရ်ဖြစ်သည်ကို သိငြားသော်လည်း ဤမျှကြောက်မက်ဖွယ်ကောင်းလှသည့် ရေဘေးကြီးကို တွေ့မြင်၍ မုအ်မင်န် ➤➤

قَالَ سَاٰوِيْٓ اِلٰى جَبَلٍ يَّعْصِمُنِيْ مِنَ الْمَآءِ ۭ قَالَ لَا عَاصِمَ الْيَوْمَ مِنْ اَمْرِ اللّٰهِ اِلَّا مَنْ رَّحِمَ ۚ وَحَالَ بَيْنَهُمَا الْمَوْجُ فَكَانَ مِنَ الْمُغْرَقِيْنَ ۝۴۳

၄၃။ ထို(နဗီတမန်တော်၏)သားက ကျွန်ုပ်သည် ယခုပင် တောင်တစ်ခုခုသို့(တက်၍) အကာအကွယ် ယူမည်။ ထိုတောင်သည် ကျွန်ုပ်အား ရေဘေးမှ ထိန်းသိမ်းကာကွယ်ပေလိမ့်မည်ဟု ပြောဆိုခဲ့လေ၏။ (ထိုအခါ) ယင်း(နဗီတမန်တော်နူဟ်)က ယနေ့မူကား အလ္လာဟ်အရှင်မြတ်အမိန့်တော်မှ (ပြစ်ဒဏ်တော်မှ) ထိန်းသိမ်းကာကွယ်မည့်သူ အလျှင်း မရှိချေ။ ထို အရှင်မြတ်က သနားညှာတာတော်မူသောသူမှတပါး (မည်သူတစ်ဦးတစ်ယောက်မျှ ဤပြစ်ဒဏ်မှ လွတ် မြောက်နိုင်လိမ့်မည် မဟုတ်ပေတကား၊) ထို့နောက် လှိုင်းတံပိုး(များ)သည် ၎င်းတို့(သားအဖ)နှစ်ဦး၏ စပ်ကြားဝယ် ကြားဝင်(ဆီးကာ)ခဲ့လေသည်။ သို့ဖြစ် ပေရာ ၎င်းသည် နှစ်မြုပ်ခြင်း ခံရသူတို့တွင် အပါအဝင် ဖြစ်ခဲ့လေသတည်း။ ၁

---

➤➤ ဖြစ်လာကောင်း ဖြစ်လာပေမည်ဟု မျှော်လင့်ကာ အသံပြုခြင်းလည်းဖြစ်နိုင်ပေသည်။ သို့မဟုတ် (ဂ) ယခင်က တမန်တော်နူဟ်၏ အိမ်သူအိမ်သားများအား ကယ်တင်တော်မူရန် အလ္လာဟ်အရှင်မြတ်က ကတိပြု ထားတော်မူခဲ့သည်။ ထိုကတိတော်အရ တမန်တော်နူဟ်သည် ထိုသားကို အိမ်သူအိမ်သားများတွင် အပါအဝင် ဖြစ်သည်ဟု ယူဆထားဟန်တူ၏။

ပြီးနောက် အိမ်သူအိမ်သားများကို ကယ်တင်တော်မူရန် ပြုထားတော်မူသော ကတိတော်တွင် 'သို့ရာတွင် ပြစ်ဒဏ်ကျရောက်ရန် အမိန့်တော် အတည်ဖြစ်သောသူများမှတစ်ပါး' ဟု ချွင်းချက်ပါရှိခဲ့၏။ သို့ရာတွင် ချွင်းချက်မှာ အတိအကျမဟုတ် အကျဉ်းသဒ်ေပ ဖြစ်နေသည့်အတွက် ဤသည့်ချွင်းချက်သည် ကင်န်အာန်နှင့် မပတ်သက်ဟု ယူဆဟန်တူ၏။ ယင်းတို့ယူဆကာ သား သံယောဇဉ်ကြီးစွာဖြင့် ကင်န်အာန်အား ဤသို့ အသံပြုခြင်းလည်း ဖြစ်နိုင်၏။

(၁) ကင်န်အာန်သည် မိုက်မဲမှုကြောင့် ဤသည့် ရေဘေးကြီးကို အခြားသာမန် ရေဘေးများကဲ့သို့ သာမန်ဟူ၍ပင် ထင်မှတ်နေခဲ့၏။ သာမန်ရေဘေးများပင် တစ်ခါတစ်ရံ လူများသည် မြင့်သောနေရာများသို့တက်၍ မိမိတို့၏ အသက်စည်းစိမ်များကို ထိန်းသိမ်းကာကွယ်နိုင်ကြ၏။ ကင်န်အာန်သည်လည်း ဤသည့်ရေဘေးကို သာမန် ရေဘေးဟူ၍ပင် မှတ်ထင်ကာမိမိအား မိမိဖခင်က သံယောဇဉ်ကြီးစွာဖြင့်ရေဘေးမှ လွတ်မြောက်ရန်အတွက် သင်္ဘောပေါ်သို့တက်ရန် အသံပြုသည်ကိုပင် ဂရုမပြုဘဲ 'ကျွန်တော်သည် တောင်ထိပ်တစ်ခုခုသို့ တက်၍ မိမိ၏အသက်ကို ကာကွယ်ပါမည်' ဟူ၍ အဖြေပေးခဲ့လေသည်။ ထိုအခါ တမန်တော်နူဟ်က ပြန်လည်ပြောကြား ခဲ့သည်မှာ အသင် အသို့သောအတွေးအခေါ်၌ ရောက်ရှိနေသနည်း။ ဤရေဘေးသည် သာမန် ➤➤

وَقِيْلَ يَٰٓأَرۡضُ ٱبۡلَعِي مَآءَكِ وَيَٰسَمَآءُ أَقۡلِعِي وَغِيضَ ٱلۡمَآءُ وَقُضِيَ ٱلۡأَمۡرُ وَٱسۡتَوَتۡ عَلَى ٱلۡجُودِيِّۖ وَقِيلَ بُعۡدٗا لِّلۡقَوۡمِ ٱلظَّٰلِمِينَ ﴿٤٤﴾

၄၄။ ထို့နောက် (အလ္လာဟ်အရှင်မြတ်အထံတော်မှ ဤသို့)အမိန့်တော် ထုတ်ပြန်တော်မူလိုက်လေသည်။ အို-ပထဝီမြေ၊ အသင်သည် မိမိရေများကို စုပ်ယူမျိုချလေလော့။ ၎င်းပြင် အို-မိုးကောင်းကင် အသင်သည် (မိုးရွာသွန်းခြင်းကို) ရပ်ဆိုင်းလေလော့။ ထိုရေအခါဝယ် ရေသည် လျော့ပါး၍သွားခဲ့လေသည်။ ထို့ပြင် အရေးကိစ္စသည်လည်း ပြီးမြောက်သွားခဲ့ရလေသည်။ ၎င်းပြင် ထိုသင်္ဘောသည်လည်း ဂျူဒီတောင်ပေါ်၌ ရပ်နား၍ သွားခဲ့လေသည်။ ထိုမှတစ်ပါး (မိမိတို့ကိုယ်ကို မိမိတို့ပင်) နှိပ်စက်ကလူ ပြုမူကုန်သောသူတို့သည် (ကရုဏာတော်မှ)ကင်းဝေခဲ့ကြချေပြီး တကားဟုမိန့်ကြားတော်မူခြင်းခံခဲ့ရလေသတည်း။ ၁

➤➤ ရေဘေးမျိုးမဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်တော်ဖြစ်သည်။ ယနေ့အဖို့ အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်တော်မှ တောင်ထိပ်မဆိုထားဘိ၊ မည်သည့်အရာမျှ မကာကွယ်နိုင်။ မည်သူမျှ မလွတ်မြောက်နိုင်။ ထိုအရှင်မြတ်၏ကရုဏာတော်ကို ခိုလှုံရသော သူသာလျှင် လွတ်မြောက်နိုင်ပေမည်။ သို့ရာတွင် သတိမူအပ်သည်မှာ ဤအချိန်သည် ပြစ်ဒဏ်ခတ်နေတော်မူသော အချိန်ဖြစ်သည်။ ဤသို့သော အချိန်အခါမျိုး၌ ပြစ်မှုကြီးငယ်တို့ကို ကျူးလွန်၍ အလွန့်အကျွံ ဆိုးမိုက်ခဲ့သော တရားခံများသည် ထိုအရှင်မြတ်၏ ကရုဏာတော်ကို အသို့လျှင် ခိုလှုံနိုင်အံ့နည်း။

သားအဖ ၂-ဦးတို့၏ စကားမပြီးဆုံးသေးမီပင် လှိုင်းတံပိုးကြီးတစ်ခုသည် ထိုသားအဖ ၂-ဦးတို့၏စပ်ကြားတွင် ဝင်လာပြီးလျှင် ထိုသားအဖ ၂-ဦးတို့အား အမြဲတစေ ခွဲပစ်လိုက်လေတော့သည်။ကင်န်အာန်သည် တမန်တော်ကြီးတစ်ပါး၏ ရင်နှစ်သည်းချာပင် ဖြစ်လင့်ကစား ကာဖိရ်သူမိုက်တို့နှင့် ပေါင်းသင်း ဆက်ဆံနေထိုင်ရာမှအစ အီမာန်မယုံကြည်သည့်အဆုံး၌ အခြားသော ကာဖိရ်များကဲ့သို့ပင် ရေဘေးသင့်၍ အသေဆိုးနှင့် သေခဲ့ရလေသတည်း။

(၁) ကုရ်အာန်ကျမ်းမြတ် (၇၁း၂၆)တွင် လာရှိသည့်အတိုင်း တမန်တော်နူဟ်က 'အို-အရှင်မြတ် ကမ္ဘာမြေပြင်ပေါ်၌ ကာဖိရ်တို့အနက် မည်သူတစ်ဦး တစ်ယောက်ကိုမျှ ချန်ထားတော်မမူပါနှင့်' ဟု ဆုပန်ကြားခဲ့သည့်အတိုင်း နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် ရေလွှမ်းမိုးသည့်ဘေးကြီး ဆိုက်ရောက်စေပြီး ကာဖိရ်အားလုံးတို့ကို သေကြေပျက်စီးစေတော်မူခဲ့လေသည်။ တမန်တော်နူဟ်နှင့်တကွ သင်္ဘောပေါ်တွင်ပါရှိသော သူများသာလျှင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့်ရေဘေးမှ လွတ်မြောက်ခဲ့ကြပေသည်။ ယင်းသို့ ကာဖိရ်များ ရေဘေးသင့်၍ သေကြေပျက်စီးသွားကြသောအခါ အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်ကို မိုးရွာသွန်းချခြင်းမှ ရပ်တန့်ရန်လည်းကောင်း၊ ပထဝီမြေကြီးကို ရေများကို စုပ်ယူရန် လည်းကောင်း၊ အမိန့်ပေးတော်မူရာ ရေများသည် မြေမျက်နှာပြင်မှ လျော့ပါးသွားလေသည်။ ကာဖိရ်တို့ကို ပြစ်ဒဏ်တော်ခတ်ရန်နှင့် မုအ်မင်န်တို့အား ➤➤

وَنَادَىٰ نُوحٌ رَّبَّهُۥ فَقَالَ رَبِّ إِنَّ ٱبْنِى مِنْ أَهْلِى وَإِنَّ وَعْدَكَ ٱلْحَقُّ وَأَنتَ أَحْكَمُ ٱلْحَٰكِمِينَ ﴿٤٥﴾

၄၅။ ထို့ပြင် (နဗီတမန်တော်) နူဟ်သည် မိမိ အရှင်မြတ်အား ဟစ်ခေါ်၍ (ဤသို့)လျှောက်ထား ပန်ကြားခဲ့လေသည်။ အို-ကျွန်တော်မျိုး၏အရှင်မြတ် ဧကန်အမှန် ကျွန်တော်မျိုး၏သားသည် ကျွန်တော် မျိုး၏ အိမ်သားတို့အနက်မှ ဖြစ်ပါသည်။ ၎င်းပြင် အရှင်မြတ်၏ ပဋိညာဉ်တော်သည်လည်း လုံးဝမှန်ကန် ပါ၏။ စင်စစ်သော်ကား အရှင်မြတ်သည် စီရင်ဆုံး ဖြတ်သူတို့တွင် သမာသမတ်အဖြစ်ဆုံးသောအရှင်မြတ် ပင် ဖြစ်တော်မူပါသတည်း။

قَالَ يَٰنُوحُ إِنَّهُۥ لَيْسَ مِنْ أَهْلِكَ ۖ إِنَّهُۥ عَمَلٌ غَيْرُ صَٰلِحٍ ۖ فَلَا تَسْـَٔلْنِ مَا لَيْسَ لَكَ بِهِۦ عِلْمٌ ۖ إِنِّىٓ أَعِظُكَ أَن تَكُونَ مِنَ ٱلْجَٰهِلِينَ ﴿٤٦﴾

၄၆။ ထိုအရှင်မြတ်သည် (ဤသို့) ပြန်ကြားတော် မူခဲ့လေသည်။ အို-နူဟ်၊ဧကန်စင်စစ် ယင်းသားသည် အသင်၏အိမ်သားတို့အနက်မှ မဟုတ်ပေ၊ ဧကန်မလွဲ ၎င်းသည် မကောင်းမှုကို ပြုမူကျင့်ဆောင်သောသူပင် ဖြစ်ပေသည်။ သို့ဖြစ်ပေရာ အသင်သည် မိမိမသိ သောအရာကို ငါအရှင်မြတ်အထံတော်တွင် လျှောက် ထားခြင်းမပြုပါလေနှင့်။ မုချစင်စစ်ငါအရှင်မြတ်သည် အသင့်အား (အနာဂတ်တွင်) အသင်သည် မသိသူတို့ နှင့် အပါအဝင်မဖြစ်ရန် ဆုံးမတော်မူသည်။

قَالَ رَبِّ إِنِّىٓ أَعُوذُ بِكَ أَنْ أَسْـَٔلَكَ مَا لَيْسَ لِى

၄၇။ ထို (နဗီတမန်တော် နူဟ်)သည် (ဤသို့) လျှောက်ထားပန်ကြားလေတော့၏။ အို-ကျွန်တော်မျိုး ၏အရှင်မြတ်၊ ဧကန်အမှန် ကျွန်တော်မျိုးသည် မိမိ မသိသောအရာကိုအရှင်မြတ်အထံတော်၌ နောက်နောင်

---

➤➤ ကယ်တင်ရန် အရေးတော်သည်လည်း ပြီးဆုံးသွားလေတော့သည်။ သင်္ဘောသည် 'ဂျူဒီ' တောင်ထိပ်တွင် တည်ရှိနေခဲ့လေသည်။

ထို့နောက် 'မိမိတို့ကိုယ်ကို မိမိတို့ နှိပ်စက်ကလူ ပြုခဲ့ကြသော ကာဖိရ်များသည် ကရုဏာတော်မှ ကင်းဝေးကြသည် ဖြစ်စေသတည်း' ဟူ၍ အမိန့်တော် မှတ်တော်မူလိုက်လေသတည်း။

بِهٖ عِلْمٌ ۗ وَاِلَّا تَغْفِرْ لِىْ وَتَرْحَمْنِىْٓ اَكُنْ مِّنَ الْخٰسِرِيْنَ ﴿٤٧﴾

မလျှောက်ထားမိရန် *အရှင်မြတ်အားဖြင့်အကာအကွယ် ယူပါ၏။* [၁] [(တစ်နည်း) အရှင်မြတ်အထံတော်၌ ခိုလှုံပါ၏။] စင်စစ်မှုကား အကယ်၍သာ အရှင်မြတ်သည် (ကျွန်တော်မျိုး လွဲချော်၍ ပြုမိခဲ့သောအပြစ်မှ) ကျွန်တော်မျိုးအား ချမ်းသာပေးတော်မမူခဲ့ပါလျှင်ငှင်းပြင် အရှင်မြတ်သည် (ကျွန်တော်မျိုး၏ ဝန်ချတောင်းပန်ချက်ကို လက်ခံတော်မူခြင်းအားဖြင့်) ကျွန်တော်မျိုးအား သနားကရုဏာ ပြုတော်မမူခဲ့ပါလျှင် ကျွန်တော်မျိုးသည် ဆုံးရှုံးသူတို့တွင် အပါအဝင် ဖြစ်သွားရပါတော့မည်။

قِيْلَ يٰنُوْحُ اهْبِطْ بِسَلٰمٍ مِّنَّا وَبَرَكٰتٍ عَلَيْكَ وَعَلٰٓى اُمَمٍ مِّمَّنْ مَّعَكَ ۗ وَاُمَمٌ سَنُمَتِّعُهُمْ ثُمَّ يَمَسُّهُمْ مِّنَّا عَذَابٌ اَلِيْمٌ ﴿٤٨﴾

၄၈။ (ထို့နောက်နဗီတမန်တော်နူဟ်သည် အလ္လာဟ်အရှင်မြတ် အထံတော်မှ ဤသို့) မိန့်ကြားတော်မူခြင်းခံခဲ့ရလေသည်မှာ 'အို-နူဟ်အသင်သည် မိမိအပေါ်၌လည်းကောင်း၊ အသင်နှင့်အတူရှိသောလူများအပေါ်၌လည်းကောင်း၊ ငါအရှင်မြတ်အထံတော်မှ ငြိမ်းချမ်းမှုနှင့် ကျက်သရေမင်္ဂလာများကို ယူဆောင်၍ (ဂျူဒီတောင်ပေါ်မှ) ဆင်းသက်ပါလေ။ ထိုမှတပါး အကြင်လူများလည်း ရှိကြပေဦးမည်။ ငါအရှင်မြတ်သည်ငှင်းတို့အား (ကာလအနည်းငယ်မျှအထိ) ပျော်မွေ့စေတော်မူပေမည်။ ထို့နောက် ငှင်းတို့၌ ငါအရှင်မြတ်အထံတော်မှ ပြင်းပြနာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်သည် ဆိုက်ရောက်မည် ဖြစ်ပေသတည်း။ [၂]

---

(၁) တမန်တော်နူဟ်သည် မိမိလျှောက်ထားချက်နှင့် စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်အထံတော်မှ အဖြေကိုကြားသိရသောအခါ တုန်လှုပ်ချောက်ချား၍ ဝန်ချတောင်းပန်ရလေတော့သည်။

ဝန်ချတောင်းပန်ရာတွင် သတိမူအပ်သည့်အချက်တစ်ရပ်မှာ တမန်တော်နူဟ်က ကျွန်တော်မျိုးသည် နောက်နောင် ဤသို့ပြုလုပ်မည် မဟုတ်ပါဟု မဆိုခဲ့ချေ။ အဘယ်ကြောင့်ဆိုသော် ဤသို့ပြောဆိုခြင်း၌ မိမိပြုစွမ်းနိုင်သည်ကို တစ်နည်းအားဖြင့် ထုတ်ဖော်ပြောဆိုရာ ရောက်ပေသည်။ လူသားတစ်ဦး၌ နောက်တဖန် မမှားပါဟု အတိအကျ အဘယ်မှာ ပြောဆိုနိုင်အံ့နည်း။ လူသားတစ်ဦးသည် ဤသို့သော ➤➤

تِلْكَ مِنْ أَنۢبَآءِ الْغَيْبِ نُوحِيهَآ إِلَيْكَ مَا كُنتَ تَعْلَمُهَآ أَنتَ وَلَا قَوْمُكَ مِن قَبْلِ هَٰذَا فَاصْبِرْ إِنَّ الْعَٰقِبَةَ لِلْمُتَّقِينَ ﴿٤٩﴾

၄၉။ ဤ(အဖြစ်အပျက် အကြောင်း)တို့ကား အကွယ်၌ရှိသော သတင်းများအနက်မှပင်ဖြစ်၏။ ငါအရှင်မြတ်သည် ထိုသတင်းများကို အသင့်ထံသို့ ထုတ်ပြန်တော်မူ၏။ ဤသို့ မထုတ်ပြန်မီ ထိုသတင်းများကို အသင်လည်းမသိခဲ့ချေ။ အသင်၏အမျိုးသားများလည်း သိခဲ့ကြသည်မဟုတ်ပေ။ ၂ သို့ဖြစ်ပေရာ အသင်သည် (သာသနာပြုရာ၌လည်းကောင်း၊ မိမိအမျိုးသားများ၏ဒုက္ခပေးမှုများအပေါ်၌လည်းကောင်း) သည်းခံပါလေ။

➤➤ မှားယွင်းမှုကို နောက်ထပ်တဖန် မကျူးလွန်မိရန် စိတ်ပြဋ္ဌာန်း၍ မိမိမှ ဤသို့သော ပြစ်မှု နောက်ထပ်တဖန် မဖြစ်ပေါ်စေရန် အလ္လာဟ်အရှင်မြတ်ထံတော်၌ ခိုလှုံရမည်သာဖြစ်သည်။

ဤသည့်သဘောကို ဖခင်ကြီး အာဒမ်နှင့် တမန်တော် ယူနုစ်တို့၏ ဝန်ချတောင်းပန်ချက်များတွင်လည်း တွေ့ရှိရပေသည်။

(၂) တမန်တော်နူဟ်၏သင်္ဘောသည် ဂျူဒီတောင်ထိပ်၌ ရပ်တည်ပြီးနောက် ရက်အနည်းငယ် အတွင်းမှာပင် ရေများကျဆင်းသွားသည့်အခါ အလ္လာဟ်အရှင်မြတ်က တမန်တော်နူဟ်အား အသင်သည် ငါအရှင်မြတ်အထံတော်မှ ငြိမ်းချမ်းသာယာမှု၊ ကျက်သရေမင်္ဂလာအပေါင်းနှင့်တကွ ဂျူဒီတောင်ထိပ်မှ မြေပျက်နှာပြင်သို့ ဆင်းသက်လေ၊ ငါအရှင်မြတ်၏ ငြိမ်းချမ်းသာယာမှုနှင့် ကျက်သရေမင်္ဂလာအပေါင်းတို့သည် အသင်အပေါ်သို့လည်းကောင်း၊ အသင်နှင့်အတူတကွ လိုက်ပါလာရှိကြကုန်သော ပုဂ္ဂိုလ်များအပေါ်၌လည်းကောင်း၊ သက်ရောက်မည်ဖြစ်သည်ဟု မိန့်ကြားတော်မူလေသည်။ အဘယ်ကြောင့်ဆိုသော် ယင်းပုဂ္ဂိုလ်တို့သည် မွတ်စ်လင်မ်များပင် ဖြစ်ကြလေသည်။ ဤသည့်အကြောင်းပြချက်တွင် ကိယာမတ်နေ့တိုင် ပေါ်ပေါက်ထွန်းကားကြမည့် မွတ်စ်လင်မ်တို့သည်လည်း အကျုံးဝင်လျက် ရှိကြပေရာ ၎င်းတို့အပေါ်၌လည်း အလ္လာဟ်အရှင်မြတ်အထံတော်မှ ငြိမ်းချမ်းသာယာမှုနှင့် ကျက်သရေမင်္ဂလာအဖြာဖြာတို့ သက်ရောက်မည့် အကြောင်း သိရှိရပေသည်။

အထက်တွင် ဖော်ပြပါရှိသည့်အတိုင်း ဤအာယတ်တော်သည် နောက်နောင် ထွန်းကားပေါ်ပေါက်ကြသည့် မွတ်စ်လင်မ်တို့အပေါ်၌ အလ္လာဟ်အရှင်မြတ်အထံတော်မှ ငြိမ်းချမ်းသာယာမှုနှင့် ကျက်သရေမင်္ဂလာအဖြာဖြာ သက်ရောက်မည့်အကြောင်းကို ညွှန်ပြထားတော်မူသည်။ နောက်နောင် ထွန်းကားကြမည့် ပုဂ္ဂိုလ်များတွင် ကာဖိရ်များလည်း ရှိကြဦးမည်ဖြစ်ရာ ယင်းကာဖိရ်နှင့် ပတ်သက်၍လည်း အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ရက်အနည်းငယ် ပျော်မွေ့စွာ ထားတော်မူ၍ နောက်ဆုံးတွင် ၎င်းတို့ထံသို့ ပြင်းပြ နာကျင်ဖွယ် ပြစ်ဒဏ်တော် သက်ရောက်မည့်အကြောင်း မိန့်ဆိုထားတော်မူသည်။ ထာနဝီ။ အ-၅။ စ-၅၁။

(၁) တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် 'အွမ္မီ' ဖြစ်တော်မူပါလျက် အလ္လာဟ်အရှင်မြတ်၏ ဝဟီဖြင့် တမန်တော်နူဟ်၏ အမျိုးသားများနှင့် အတိတ်ခေတ်အမျိုးသားတို့၏ အတ္ထုပ္ပတ္တိများကို အမှန်အကန် အတိအကျ ထုတ်ဖော်ပြောဆိုနိုင်တော်မူခဲ့၏။ ဤသည်လည်း တမန်တော်မြတ် နဗီဖြစ်တော်မူခြင်း၏ သက်သေလက္ခဏာတော် တစ်ပါးပင် ဖြစ်ပေသည်။

ဧကန်မလွဲ နောက်ဆုံးတွင် အကျိုးခံစားမှုသည်ကား (ပြစ်မှုဒုစရိုက်များမှ) ကြဉ်ရှောင်ကြကုန်သောသူတော်စင်တို့အဖို့သာလျှင်ဖြစ်ချေသတည်း။ [၁]

وَإِلَىٰ عَادٍ أَخَاهُمْ هُودًا ۚ قَالَ يَٰقَوْمِ ٱعْبُدُوا۟ ٱللَّهَ مَا لَكُم مِّنْ إِلَٰهٍ غَيْرُهُۥٓ ۖ إِنْ أَنتُمْ إِلَّا مُفْتَرُونَ ﴿٥٠﴾

၅၀။ ထို့ပြင် (ငါအရှင်မြတ်သည်) အာဒ်အမျိုးသားတို့ထံ ၎င်းတို့၏အစ်ကို (နဗီတမန်တော်)'ဟူဒ်'အား (စေလွှတ်တော်မူခဲ့လေသည်။) ထို(နဗီတမန်တော်)ဟူဒ်သည် (မိမိအမျိုးသားတို့အား ဤသို့)ပြောဆိုဆုံးမခဲ့လေသည်။ အို-ငါ၏အမျိုးသားတို့ အသင်တို့သည် အလ္လာဟ် အရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ဆည်းကပ်ကြလေကုန်။ အသင်တို့အဖို့ ထိုအရှင်မြတ်မှတစ်ပါး ဆည်းကပ်ကိုးကွယ်ရာအရှင်ဟူ၍ အလျင်းမရှိချေ။ (စင်စစ်သော်ကား) အသင်တို့သည် လီဆယ်ဖန်တီးသူများသာလျှင် ဖြစ်ကြကုန်သတည်း။

يَٰقَوْمِ لَآ أَسْـَٔلُكُمْ عَلَيْهِ أَجْرًا ۖ إِنْ أَجْرِىَ إِلَّا عَلَى ٱلَّذِى فَطَرَنِىٓ ۚ أَفَلَا تَعْقِلُونَ ﴿٥١﴾

၅၁။ အို-ငါ၏အမျိုးသားတို့ ငါသည် အသင်တို့ထံ ဤ(တရားဓမ္မ ဟောကြားခြင်း)နှင့်စပ်လျဉ်း၍ မည်သည့် အကျိုးဆုလဒ်ကိုမျှ တောင်းဆိုသည်မဟုတ်ပေ။ ငါ၏အကျိုးဆုလဒ်မှာမူကား ငါ့အားဖန်ဆင်းတော်မူသော *အရှင်မြတ်ပေါ်၌သာ တာဝန်ရှိပေသည်။* [၂] သို့ပါလျက် အသင်တို့သည် (ဤမျှထင်ရှားလှသော အကြောင်းကိုပင်) နားမလည်ကြပါသလော။

(၁) အောင်မြင်မှု၊ အကျိုးခံစားမှုသည် နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညား၍ ပြစ်ဒုစရိုက်အပေါင်းတို့မှ ကြဉ်ရှောင်ကြကုန်သော သူတော်စင်အပေါင်းတို့အဖို့သာ ဖြစ်ပေသည်။ ဥပမာ- တမန်တော်နူဟ်နှင့်တကွ တမန်တော်နူဟ်အား ယုံကြည်မြတ်နိုးခဲ့ကြသော မွတ်စ်လင်မ်သူတော်စင်တို့သည် နောက်ဆုံးတွင် အောင်မြင်ခဲ့ကြသကဲ့သို့ တမန်တော်မြတ်နှင့်တကွ တမန်တော်မြတ်၏ နောက်လိုက်တပည့်သား မွတ်စ်လင်မ်များသည်လည်း နောက်ဆုံးတွင် မုချအောင်မြင်ကြမည်သာတည်း။

တမန်တော်မြတ်သည် ကာဖိရ်တို့၏ နှိပ်စက် ညှဉ်းပမ်းမှုများကြောင့် စိတ်ပျက်ရန်မလိုပေ။ တမန်တော်နူဟ်သည် နှစ်ပေါင်း (၉၅၀)တိုင်တိုင် သည်းခံခဲ့ပေသည်။ တမန်တော်မြတ်သည် တမန်တော်နူဟ်၏ အတ္ထုပ္ပတ္တိမှ သင်ခန်းစာယူရပေမည်။ အထူးတလည် သည်းခံရပေမည်။ အောင်မြင်မှုကား သည်းခံခြင်း၏ အကျိုးပင်တည်း။

وَيٰقَوْمِ اسْتَغْفِرُوْا رَبَّكُمْ ثُمَّ تُوْبُوْٓا اِلَيْهِ يُرْسِلِ السَّمَآءَ عَلَيْكُمْ مِّدْرَارًا وَّيَزِدْكُمْ قُوَّةً اِلٰى قُوَّتِكُمْ وَلَا تَتَوَلَّوْا مُجْرِمِيْنَ ۝٥٢

၅၂။ ၎င်းပြင် အို-ငါ၏အမျိုးသားတို့၊ အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်၌ လွတ်ငြိမ်း ချမ်းသာခွင့်ကို ပန်ကြားကြလေကုန်။ [၁] ထို့နောက် အသင်တို့သည် (ထိုအရှင်မြတ်အထံတော်၌ ဝန်ချတောင်းပန်ကြလေကုန်။) (တစ်နည်း) ထိုအရှင်မြတ်ဖက်သို့ အာရုံပြုနေကြလေကုန်။ (ထိုအရှင်မြတ်သည် အသင်တို့အပေါ်၌ မိုးကို ဖြိုင်ဖြိုင် ရွာသွန်းစေတော်မူအံ့။ အသင်တို့၏ အားအင်၌ အသစ်ထပ်ဖြည့်တော်မူ၍) အသင်တို့ကို အားအင်တိုးတက်စေတော်မူအံ့။ ၎င်းပြင် အသင်တို့သည် ပြစ်မှုကျူးလွန်သူများအဖြစ် မျက်နှာလွှဲ၍ မသွားကြကုန်လင့်။

---

(၂) တမန်တော်ဟူဒ်က မိမိ၏အမျိုးသားများအား 'ကျွန်ုပ်သည် ဤသို့ တရားဓမ္မဟောကြားသည့်အတွက် အသင်တို့ထံမှ အခကြေးငွေ တစ်စုံတစ်ရာ တောင်းဆိုသည်မရှိ။ ကျွန်ုပ်အား မွေးမြူတော်မူသော အရှင်သည် ကျွန်ုပ်အား လောကီဆိုင်ရာလိုအပ်သည်များနှင့် နောင်တမလွန်ဘဝဆိုင်ရာ ကုသိုလ်အကျိုးများကို ချီးမြှင့်တော်မူမည်သာဖြစ်သည်။ ဤသည့်သြဝါဒကို ပွင့်လေသမျှသော နဗီ၊ ရစူလ်၊ တမန်တော်အပေါင်းတို့သည် မိမိတို့၏ အမျိုးသားများအား အသီးသီး ပြောကြားတော်မူခဲ့ကြကုန်သည်။ ကြည့်-ကုရ်အာန်(၆း၉၀။ ၁၀း၇၂။ ၁၁း၅၁။ ၂၅း၅၇။ ၂၆း၁၀၉။ ၂၆း၁၂၇။ ၂၆း၁၄၅။ ၂၆း၁၆၄။ ၂၆း၁၈၀။ ၃၈း၈၆။ ၄၂း၂၃)။ ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် နဗီတမန်တော်အပေါင်းတို့သည် ကိုယ်ကျိုးအလျဉ်းမဖက်၊ စေတနာသက်သက်ဖြင့်သာ တရားဓမ္မ ဟောကြားခဲ့ကြကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။ ယင်းသို့ စေတနာသက်သက်ဖြင့် ဟောကြားသည့် တရားဓမ္မသည်သာလျှင် ထိရောက်ပေသည်။ စူးရှပေသည်။ ယင်းသို့ ကိုယ်ကျိုးမဖက် စေတနာသက်သက်ဖြင့် ဟောကြားခဲ့သည့်အတွက်ကြောင့်လည်း လောကီသားတို့သည် မည်သည့်တမန်တော်တစ်ပါးကိုမျှ လောကီရေးနှင့် စပ်လျဉ်း၍ တစ်စုံတစ်ရာ စွပ်စွဲနိုင်ခဲ့ကြသည် မရှိပေ။

(၁) တမန်တော်ဟူဒ်က အမျိုးသားများသည် ဥယျာဉ်ပန်းမာလ် လယ်ယာကိုင်းကျွန်း စိုက်ပျိုးရေးကို အထူး စိတ်ဝင်စားခဲ့ကြ၏။ မိုးခေါင်ရေရှားသောဘေးနှင့် ရင်ဆိုင်နေကြရသည်မှာလည်း သုံးနှစ်တိုင်တိုင် ရှိချေပြီ။ ထိုအချိန်တွင် တမန်တော်ဟူဒ်က မိမိ၏အမျိုးသားများအား အကယ်၍ အီမာန်ယူလာကြလျှင် အီမာန်၏ အကျိုးသည် နောင်တမလွန်ဘဝတွင်သာမက ဤပစ္စုပ္ပန်မျက်မှောက်ဘဝတွင်လည်း ဖြစ်ထွန်းမည့်အကြောင်း ရင်ဆိုင်တွေ့ကြုံခံစားနေကြရသော မိုးခေါင်ရေရှားမှုသည်လည်း ကင်းဝေးသွားမည်ဖြစ်ကြောင်း ကတိစကား ပြောကြားတော်မူလေသည်။ (ဝါ) အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို မသွေဖည်ဘဲ ထိုအရှင်မြတ် အထံတော်၌ ဝန်ချတောင်းပန် အသနားခံ၍ ထိုအရှင်မြတ်ဘက်တော်သို့သာ လှည့်၍ နေကြလျှင် ထိုအရှင်မြတ်သည် ရုပ်၊ နာမ်၊ လောကီ၊ လောကုတ္တရာ နှစ်ဖြာသောအကျိုးများကို ချီးမြှင့်တော်မူမည်ဖြစ်သည်။ ➤➤

قَالُوا يٰهُوْدُ مَا جِئْتَنَا بِبَيِّنَةٍ وَّمَا نَحْنُ بِتَارِكِيْٓ اٰلِهَتِنَا عَنْ قَوْلِكَ وَمَا نَحْنُ لَكَ بِمُؤْمِنِيْنَ ﴿٥٣﴾

၅၃။ ၎င်း(အမျိုးသား)တို့က (နဗီတမန်တော်ဟူဒ်အား ဤသို့) ပြောဆိုခဲ့ကြလေသည်။ အို-ဟူဒ်၊ အသင်သည် (မိမိပြောဆိုချက်နှင့်စပ်လျဉ်း၍) ကျွန်ုပ်တို့ထံ ထင်ရှားသောသက်သေသာဓကေ တစ်စုံတစ်ရာကိုမျှ ယူဆောင်ခဲ့သည် မရှိချေ။ ထို့ပြင် ကျွန်ုပ်တို့သည် အသင်ပြောဆိုချက်ကြောင့် မိမိတို့၏ကိုးကွယ်ရာများကို စွန့်လွှတ်ကြမည့်သူများလည်း မဟုတ်ကြချေ။ ထိုမှတစ်ပါး ကျွန်ုပ်တို့သည် အသင့်၏အပေါ်၌ ယုံကြည်ကြမည့်သူများလည်း မဟုတ်ကြပေ။ [1]

اِنْ نَّقُوْلُ اِلَّا اعْتَرٰىكَ بَعْضُ اٰلِهَتِنَا بِسُوْٓءٍ ؕ قَالَ اِنِّيْٓ اُشْهِدُ

၅၄။ ကျွန်ုပ်တို့သည် ကျွန်ုပ်တို့၏ ကိုးကွယ်ရာဘုရားများအနက် ဘုရားတစ်ဆူဆူက အသင်အား အမှောင့်ပယောဂဖြင့် ဖမ်းစားခဲ့သည် ဟူ၍သာ ပြောဆိုလိုကြပေသည်။ [2]

---

➤➤ လက်ရှိအင်အားကို မလျော့စေသည့်အပြင် အားအင်များကို ဖြည့်တင်းပေးတော်မူမည် ဖြစ်သည်ဟု ဟောကြားတော်မူခဲ့လေသည်။

'ဟဒီဆ်'တော်၌လာရှိသည်မှာ အကြင်သူသည် လွတ်ငြိမ်းချမ်းသာခွင့်ကို အမြဲတစေ ပန်ကြားသော် အလ္လာဟ်အရှင်မြတ်သည် ထိုသူအား ပူပန်ကြောင့်ကြမှု အာလုံးတို့မှ သက်သာမှုကိုလည်းကောင်း၊ ကျပ်တည်းမှု အပေါင်းတို့မှ လွတ်မြောက်မှုကိုလည်းကောင်း၊ ဖန်တီးပေးတော်မူအံ့၊ ထို့ပြင် ထိုသူအား ထိုသူမတွေးထင်မိသော နေရာမှ စားနပ်ရိက္ခာကို ပေးသနားတော်မူအံ့'။ အီဗ်နုကဆီရ်၊အ-၂။ စ-၄၄၉။

(၁) အာဒ်အမျိုးသားများက တမန်တော်ဟူဒ်အား 'အသင်သည် ကျွန်ုပ်တို့ထံသို့ ထင်ရှားသော သက်သေသာဓကေ တစ်စုံတစ်ခုကိုမျှ ယူဆောင်လာခဲ့သည့်မရှိပါ' ဟု ပြောဆိုခြင်းမှာ တမင်ဖွတ်မိုတ်၍ ငြင်းဆိုပြောဆိုခြင်းသာ ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် တမန်တော်အဖြစ် ချီးမြှင့်ခန့်အပ်တော်မူသော ပုဂ္ဂိုလ်မြတ်တိုင်းအား တမန်တော်ဖြစ်ကြောင်း သက်သေသာဓကေ ချီးမြှင့်တော်မူခဲ့သည်သာဖြစ်သည်။ တမန်တော်မြတ်၏ 'ဟဒီဆ်' သြဝါဒတော်များတွင်လည်း 'တမန်တော်အဖြစ် ပွင့်လာခဲ့ကြသော ပုဂ္ဂိုလ်မြတ်တိုင်း၌ ထင်ရှားသော သက်သေသာဓကေများသည် ပါရှိသည်သာဖြစ်သည်။ ထိုသက်သေသာဓကေများကို ကြည့်၍ အီမာန်ယူလိုသူများသည် အီမာန်ယူလာနိုင်ကြပေသည်' ဟု လာရှိပေသည်။

ထို့အတွက်ကြောင့် တမန်တော်ဟူဒ်သည်လည်း အခြားတမန်တော်များကဲ့သို့ပင် မိမိ၏ အမျိုးသားများအား ပတ်ဝန်းကျင်အခြေအနေရ နည်းများမဆို သက်သေသာဓကေ ပြသတော်မူခဲ့သည်ဟူ၍ အခိုင်အမာ ပြောဆိုနိုင်ပေသည်။ သို့တစေတည်း အာဒ်အမျိုးသားများသည် မိုက်မဲလွန်းကြသည့်အတွက် တမန်တော်ဟူဒ်အား 'ကျွန်ုပ်တို့သည် အသင်ပြောရုံမျှဖြင့် မိမိတို့၏ ကိုးကွယ်ရာများကို စွန့်လွှတ်ကြမည်မဟုတ်၊ ➤➤

➤➤ အသင့်အားလည်း ယုံကြည်ကြမည် မဟုတ်' ဟု ဖွတ်မိုက်၍ ငြင်းဆိုခဲ့ကြလေသည်။

(၂) အာဒ်အမျိုးသားများက တမန်တော်ဟူဒ်အား 'အသင်သည် ကျွန်ုပ်တို့၏ ကိုးကွယ်ရာများကို မကောင်းပြောသည်။ ထိုကိုးကွယ်ရာများကို ကိုးကွယ်ခြင်းမှ တားဆီးသည်။ ထို့အတွက်ကြောင့် ကျွန်ုပ်တို့၏ ကိုးကွယ်ရာများအနက် အချို့က အသင့်အား ဖမ်းစား၍ ရူးသွပ်အောင်ပြုလုပ်ထားလေပြီ။ ထို့အတွက်ကြောင့်လည်း အသင်သည် ယခု သူရူးများပမာ ပြောဆိုနေခြင်းသာ ဖြစ်သည်' ဟု (မပြောစကောင်း မဆိုစကောင်း) ပြောဆိုခဲ့ကြလေသည်။

အာဒ်အမျိုးသားများက ယင်းသို့ မိုက်မဲစွာ ပြောဆိုလာကြသည့်အခါ တမန်တော်ဟူဒ်က 'ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ အတိအလင်း ကြေညာအံ့၊ အသင်တို့လည်း နားထောင်ထားကြ၊ အသင်တို့ ယခု ကိုးကွယ်နေကြသော အချည်းအနှီးသော ကိုးကွယ်ရာများနှင့် ကျွန်ုပ်သည် လုံးဝလွတ်ကင်းသည်။ အသင်တို့သည် ကာယဗလကြီးမားလှသည်၊ အားအင်လည်း များပြားလှသည်။

ကြည့်-ကုရ်အာန် (၄၁း၁၅)၊

သို့ဖြစ်ရာ အသင်တို့သည် မိမိတို့ ကိုးကွယ်ရာများနှင့် စုပေါင်းပြီး ရှိရှိသမျှသော အင်အားစုအားလုံးတို့ကို အသုံးပြုကာ အစွမ်းကုန် ကျွန်ုပ်အား ကြံစည်ကြကုန်။ ယင်းသို့ ကြံစည်ရာတွင်လည်း ကျွန်ုပ်အား တစ်မိနစ်မျှ အခွင့်မပေးကြကုန်လင့်၊ သို့သော်လည်း အသင်တို့ သိထားအပ်သည်မှာ အသင်တို့သည် ကျွန်ုပ်အား အနည်းငယ် စိုးစဉ်းမျှ နစ်နာဆုံးရှုံးအောင်ကား အလျဉ်းပြုလုပ်နိုင်မည်မဟုတ်ပေ၊ အဘယ်ကြောင့်ဆိုသော် ကျွန်ုပ်သည် တစ်ဆူတည်းဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ် အားယုံပုံစိတ်ချလွှဲအပ်ထားသည်။ ထိုအရှင်မြတ်သည် ကျွန်ုပ်၏အရှင်လည်း ဖြစ်တော်မူပေသည်။ အသင်တို့၏ အရှင်သခင်လည်း ဖြစ်တော်မူသည်။ သို့ရာတွင် အသင်တို့သည် မိုက်မဲမှုကြောင့် မိမိတို့၏အရှင်ကိုပင် မသိကြပေ။ ကျွန်ုပ်နှင့် အသင်တို့ မဆိုထားဘိ၊ သက်ရှိသတ္တဝါ ဟူသမျှတို့သည် ထိုအရှင်မြတ်တို့၏ လက်တော်တွင်း၌သာ ရှိပေသည်။ ထိုအရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူသည်။ မိမိအလိုတော်အတိုင်း ချယ်လှယ်တော်မူသည်။ ထိုအရှင်မြတ်၏ လက်တော်တွင်းမှ မည်သူမျှ လွတ်မြောက် ထွက်ပြေးနိုင်သည်မရှိ၊ သူယုတ်မာတို့သည် ထိုအရှင်မြတ်၏ အရေးယူတော်မူခြင်းမှ လွတ်မြောက်နိုင်ကြသည်လည်း မရှိ၊ သူတော်စင်များသည် ထိုအရှင်မြတ်၏ ထိန်းသိမ်းစောင့်ရှောက်မှုအတွင်း၌ ဂုဏ်ရည်သေးသိမ်ကြမည်လည်း မဟုတ်၊ အမှန်စင်စစ် ကျွန်ုပ်၏ အရှင်သခင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် တရားမျှတခြင်းတည်းဟူသော ဖြောင့်မတ်မှန်ကန်သော တရားလမ်းပေါ်၌ တည်ရှိတော်မူသည်။ ထိုအရှင်မြတ်၏ အထံတော်တွင် မတရားမှုဟူ၍ အလျဉ်းမရှိ။ အကြောင်းမဲ့ ချီးမြှင့်တော်မူသည်ဟူ၍လည်း အလျဉ်းမရှိ၊ ထိုအရှင်မြတ်သည် မိမိ၏ကျွန်များအား ဖြောင့်မတ် မှန်ကန်သော တရားလမ်းကို ပြသထားတော်မူသည်။ ထိုတရားလမ်းပေါ်၌ သွားလာပါက ကောင်းကျိုးချမ်းသာ အဖြာဖြာကို ခံစားရမည်ဖြစ်သည်။

ထိုတရားလမ်းပေါ်၌ သွားလာသူတို့အား ထိုအရှင်မြတ်သည် အခါမရွေး ထိန်းသိမ်းစောင့်ရှောက်တော်မူမည်သာဖြစ်သည်' ဟု ပြန်လည် ဟောကြားတော်မူခဲ့လေသည်။

တမန်တော်ဟူဒ်က မိမိ၏အမျိုးသားများအား အတည့်အလင်း ကျေညာသကဲ့သို့ တမန်တော်နူဟ်ကလည်း ကြေညာခဲ့သည်။ ကြည့်-ကုရ်အာန်(၁၀း၇၁)။ တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ကလည်း ကျေညာတော်မူခဲ့လေသည်။ ကြည့်-ကုရ်အာန် (၇း၁၉၅)။

တမန်တော်ဟူဒ်သည် တစ်ကိုယ်တည်းဖြစ်လျက် အားအင်ကြီးမား များပြားလှသော မိမိ၏ ➤➤

اللّٰهَ وَاشْهَدُوْٓا اَنِّیْ بَرِیْٓءٌ مِّمَّا تُشْرِكُوْنَ ﴿٥٤﴾

(ထိုအခါ) ထို(နဗီတမန်တော်ဟူဒ်)က (ဤသို့) ပြန်ကြားခဲ့သည်မှာ ဟယ်-အချင်းတို့ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အပြင် တွဲဖက်ကိုးကွယ်လျက်ရှိကြသော အရာများနှင့် ငါသည် လုံး၀လွတ်ကင်းသူတစ်ဦးဖြစ်ကြောင်း အလ္လာဟ်အရှင်မြတ်အား သက်သေထား(၍ အတည့်အလင်း ကြေညာ)သည်။ အသင်တို့သည်လည်း သက်သေခံကြကုန်လော့။

مِنْ دُوْنِهٖ فَكِیْدُوْنِیْ جَمِیْعًا ثُمَّ لَا تُنْظِرُوْنِ ﴿٥٥﴾

၅၅။ သို့ဖြစ်ပေရာ အသင်တို့အားလုံးသည် ငါနှင့်ဆန့်ကျင်၍ လျှို့ဝှက်ကြံစည်ကြလေကုန်။ ထို့နောက် အသင်တို့သည် ငါအား (အနည်းငယ်မျှပင်) ရွှေ့ဆိုင်းခွင့်မပေးကြကုန်လင့်။

اِنِّیْ تَوَكَّلْتُ عَلَی اللّٰهِ رَبِّیْ وَرَبِّكُمْ ؕ مَا مِنْ دَآبَّةٍ اِلَّا هُوَ اٰخِذٌۢ بِنَاصِیَتِهَا ؕ اِنَّ رَبِّیْ عَلٰی صِرَاطٍ مُّسْتَقِیْمٍ ﴿٥٦﴾

၅၆။ အကယ်စင်စစ် ငါသည် ငါ၏အရှင်မြတ်လည်းဖြစ်တော်မူသော အသင်တို့၏အရှင်မြတ်လည်းဖြစ်တော်မူသော အလ္လာဟ် အရှင်မြတ်အပေါ်၌ယုံကြည်စိတ်ချလွှဲအပ်ခဲ့လေပြီ။ ထိုအရှင်မြတ်သည် ရှိရှိသမျှသော တိရစ္ဆာန်တို့၏ *နဖူး(ဆံစ)ကို ဆုပ်ကိုင်ထားတော်မူပေသည်။*[၁] ဧကန်မလွဲ ငါ၏အရှင်မြတ်သည် ဖြောင့်မတ်မှန်ကန်သောလမ်းပေါ်၌ပင် ရှိနေတော်မူပေသတည်း။

---

➤➤ အတိုက်အခံ အင်အားစုကြီးအား ဤကဲ့သို့ ရဲရဲတောက် ကြေညာခဲ့ခြင်း၊ ယင်းသို့ ကြေညာခဲ့ပါလျက် အတိုက်အခံ အင်အားစုကြီးသည် တမန်တော်ဟူဒ်အား ဆံခြည်မျှင် တစ်ပင်မျှ နစ်နာဆုံးရှုံးအောင် မပြုလုပ်နိုင်ခဲ့ခြင်းသည်ပင်လျှင် တမန်တော်ဟူဒ်အဖို့ တန်ခိုးဗျာဒိတာ တစ်ပါးပင် ဖြစ်လျက်ရှိချေပြီ။

ကြည့်-ထာနဝီ။ အ-၅။ စ-၅၃။

(၁) နဖူး (ဆံစ) ကို ဆုပ်ကိုင်ထားခြင်းဟူသည် တန်ခိုးအာဏာ ကြီးကြောင်း၊ တည်ကြောင်း၊ နိုင်နင်းကြောင်းကို တင်စား၍ မိန့်ဆိုထားခြင်းဖြစ်သည်။

فَإِن تَوَلَّوْا فَقَدْ أَبْلَغْتُكُم مَّا أُرْسِلْتُ بِهِ إِلَيْكُمْ وَيَسْتَخْلِفُ رَبِّي قَوْمًا غَيْرَكُمْ وَلَا تَضُرُّونَهُ شَيْئًا إِنَّ رَبِّي عَلَىٰ كُلِّ شَيْءٍ حَفِيظٌ ﴿٥٧﴾

၅၇။ သို့ရာတွင် အကယ်၍ အသင်တို့သည် မျက်နှာလွှဲဖယ်လျက်ပင် ရှိနေကြလျှင် မုချဧကန် ငါသည် အကြင်အမိန့်တော်များကို အသင်တို့ထံ ပို့ခဲ့ပြီးဖြစ်ပေသည်။ ငါသည်ထိုအမိန့်တော်များနှင့်တကွ အသင်တို့ထံသို့ စေလွှတ်တော်မူခြင်းကို ခံခဲ့ရလေသည်။ ထို့ပြင် ငါ၏အရှင်မြတ်သည် (အသင်တို့နေရာတွင်) အသင်တို့၏ကိုယ်စား အခြား လူမျိုးတစ်မျိုးကို ခန့်အပ်တော်မူမည်။ ၎င်းပြင် အသင်တို့သည် ထိုအရှင်မြတ်အား တစ်စုံတစ်ရာမျှပင် ကျိုးယုတ်ဆုံးရှုံးစေနိုင်ကြမည် မဟုတ်ပေ။ ဧကန်စင်စစ် ငါ၏ အရှင်မြတ်သည် အရာခပ်သိမ်းတို့ အပေါ်ဝယ် ထိန်းသိမ်း စောင့်ရှောက်တော်မူသော အရှင်မြတ်ပင် ဖြစ်တော် မူပေသတည်း။ [၁]

---

(၁) ဤအာယတ်တော်၏ အလိုသဘောကား တမန်တော်ဟူဒ်က မိမိအမျိုးသားများအား အသင်တို့သည် ယခုကဲ့သို့ တိကျပြတ်သားသော တရားစကားများကို ကြားနာကြပြီးနောက်သော်မှပင် အကယ်၍ သွေဖည်ကျောခိုင်းလျက် နေကြပါမူ ကျွန်ုပ်၌ တစ်စုံတစ်ရာ နစ်နာစရာမရှိ၊ ကျွန်ုပ်သည် မိမိ၌တာဝန်ရှိသည့် အလျောက် အသင်တို့အား ဟောပြောရန် တရားဒေသနာတော်များကို တစ်လုံးတစ်ပါဒမျှ မချန် စ၊လယ်၊ဆုံး ဟောပြောပြီးဖြစ်သည်။ ကျွန်ုပ်၏ တာဝန်ကားကျေပြီ။ အသင်တို့သာလျှင် မိမိတို့၏အရေးကို စဉ်းစားကြရမည် ဖြစ်သည်။

အသင်တို့သည် ယခုကဲ့သို့ ဖွတ်တရွတ်ပြုကာ တရား ဒေသနာတော်များကို သွေဖည် ငြင်းဆန်နေကြ ပါလျှင် အလ္လာဟ် အရှင်မြတ် အထံတော်မှ အသင်တို့ထံသို့ ပြစ်ဒဏ်တော်သည် မုချသက်ရောက်လာမည် ဖြစ်သည်။ ထိုအချိန်တွင် အသင်တို့အားလုံး ပျက်စီးသွားကြမည်။ သို့ရာတွင် အသင်တို့ သိထားအပ်သည်မှာ အသင်တို့ ပျက်စီး သွားသည့်အတွက် အလ္လာဟ် အရှင်မြတ်၏ ကမ္ဘာမြေကြီးသည် တိမ်ကောသွားမည် မဟုတ်။ ထိုအရှင်မြတ်သည် အသင်တို့နေရာတွင် အသင်တို့၏အစား အခြားသူများကို ခန့်အပ်တော်မူမည် ဖြစ်သည်။ အသင်တို့သည် ထိုအရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ တမန်တော်များအားလည်းကောင်း၊ အနည်းငယ် စိုးစဉ်းမျှ နစ်နာအောင် ပြုလုပ်နိုင်ကြမည်လည်းမဟုတ်။ ထိုအရှင်မြတ်၏ နိုင်ငံတော်သည် ပျက်စီးသွားမည်လည်းမဟုတ်။

အဘယ်ကြောင့်ဆိုသော် ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ထိန်းသိမ်း စောင့်ရှောက်တော်မူသော အရှင်ဖြစ်တော်မူရာ ထိုအရှင်မြတ်သည် မိမိ၏အနန္တတန်ခိုးတော်ဖြင့် ထိန်းသိမ်းကာကွယ်ထားသည့် အရာများကို ထိန်းသိမ်းကာကွယ် ထားတော်မူမည်ပင် ဖြစ်သည်။

၅၈။ တဖန် ငါအရှင်မြတ်၏အမိန့်တော် ရောက်ရှိလာသောအခါ ငါအရှင်မြတ်သည် (နဗီတမန်တော်) 'ဟူဒ်' အားလည်းကောင်း၊ ထို(နဗီတမန်တော်)ဟူဒ်နှင့်အတူ သက်ဝင်ယုံကြည်ခဲ့ကြသော သူတို့အားလည်းကောင်း၊ မိမိကရုဏာတော်ဖြင့် ကယ်တင်တော်မူခဲ့လေသည်။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုသူတို့အား ပြင်းထန်လှစွာသော ပြစ်ဒဏ်တစ်ရပ်မှလည်း ကယ်တင်တော်မူခဲ့လေသတည်း။ [၁]

وَلَمَّا جَآءَ أَمْرُنَا نَجَّيْنَا هُودًا وَالَّذِينَ ءَامَنُوا۟ مَعَهُۥ بِرَحْمَةٍ مِّنَّا وَنَجَّيْنَٰهُم مِّنْ عَذَابٍ غَلِيظٍ ﴿٥٨﴾

၅၉။ စင်စစ်သော်ကား ဤသည် အာဒ်အမျိုးသားများပင်။ ၎င်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ သက်သေလက္ခဏာများကို ငြင်းပယ်ခဲ့ကြလေသည်။ ၎င်းတို့သည် ထိုအရှင်မြတ်၏ ရစူလ်တမန်တော်များကို *ဖီဆန်ခဲ့ကြလေသည်။* [၂] ထို့မှတစ်ပါး ၎င်းတို့သည် ခေါင်းမာသော၊ နိုင်ထက်ကလူပြုမူသောလူတိုင်း၏ *အမိန့်ကို လိုက်နာခဲ့ကြကုန်သတည်း။* [၃]

وَتِلْكَ عَادٌ ۖ جَحَدُوا۟ بِـَٔايَٰتِ رَبِّهِمْ وَعَصَوْا۟ رُسُلَهُۥ وَٱتَّبَعُوٓا۟ أَمْرَ كُلِّ جَبَّارٍ عَنِيدٍ ﴿٥٩﴾

---

(၁) နောက်ဆုံးတွင် မောက်မာဆိုးသွမ်းလှသော အာဒ်အမျိုးသားများထံသို့ အလ္လာဟ်အရှင်မြတ်ထံတော်မှ ပြစ်ဒဏ်တော် ဆိုက်ရောက်လာခဲ့လေသည်။ ပြင်းထန်လှသော လေမုန်တိုင်းသည် ၎င်းတို့အပေါ်၌ ခုနစ်ည၌နှင့် ရှစ်ရက်တိုင်တိုင် တိုက်ခတ်လေရာ အိမ်အိုးတိုက်တာ ဂေဟာများနှင့်တကွ အမိန့်တော်ကို သွေဖည်ငြင်းဆန်မနာခံခဲ့ကြသော အာဒ်အမျိုးသားများသည် သေကြေပျက်စီးသွားခဲ့ကြလေသည်။ ကြည့်-ကုရ်အာန် (၆၉း၆-၈)။ ယင်းသို့ အာဒ်အမျိုးသားများထံသို့ ပြစ်ဒဏ်တော်ကျရောက်လာသည့်အခါ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် တမန်တော်ဟူဒ်နှင့်တကွ (၄၀၀၀)ခန့်ရှိသော မုအ်မင်န်တို့အား ကယ်တင်ထားတော်မူခဲ့လေသည်။ အလ္လာဟ်အရှင်မြတ်သည် မောက်မာဆိုးသွမ်းလှသော အာဒ်အမျိုးသားတို့အား ပြစ်ဒဏ်တော်တပ်ရိုက်စီရင်တော်မူခဲ့သည့်အကြောင်း ကုရ်အာန်(၂၃း၄၁။ ၄၁း၁၆။ ၄၆း၂၄-၂၆။ ၅၁း၄၁-၄၂။ ၅၄း၁၇-၂၀။ ၆၉း၆-၈) တွင် အတိအလင်း ပါရှိလေသည်။

အလ္လာဟ်အရှင်မြတ်သည် တမန်တော်ဟူဒ်နှင့်တကွ မုအ်မင်န်တို့အား အာဒ်အမျိုးသားတို့ထံသို့ ဆိုက်ရောက်ခဲ့သော လောကီပြစ်ဒဏ်တော်မှသာ ကယ်တင်တော်မူခဲ့သည်မဟုတ်။ နောင်ကိယာမတ်နေ့တွင် ကာဖိရ်တို့ခံစားကြရမည့် ပြင်းထန်လှသော ငရဲမီးဘေးကြီးမှလည်း ၎င်းတို့၏ အီမာန်ယုံကြည်မှုနှင့် ကောင်းမွန်သော အကျင့်အမူများကြောင့် ကယ်တင်တော်မူမည်ဖြစ်သည်။

၆၀။ ထို့ပြင် ၎င်းတို့သည် ဤပစ္စုပ္ပန် မျက်မှောက် လောကီဘဝ၌လည်းကောင်း၊ ကိယာမတ်ရှင်ပြန်ထ ရမည့်နေ့တွင်လည်းကောင်း၊ ကရုဏာတော်မှကင်းဝေး စေခြင်းကို (မိမိတို့)နောက်မှ ထက်ကြပ်မကွာလိုက်စေ ခြင်းကို ခံခဲ့ကြရလေသည်။

وَأُتْبِعُوا فِي هَٰذِهِ الدُّنْيَا لَعْنَةً وَيَوْمَ الْقِيَامَةِ ۗ أَلَا إِنَّ عَادًا كَفَرُوا رَبَّهُمْ ۗ

---

⑫ အာဒ်အမျိုးသားများသည် မောက်မာပလွှားဝါကြွား၍ အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို သွေဖည်ခဲ့ကြ၏။ ထိုအရှင်မြတ်၏ တမန်တော်များအား ဆန့်ကျင်ခဲ့ကြ၏။ အန်တုခဲ့ကြ၏။ ၎င်းတို့အနက် ငယ်သားများသည် မိမိတို့အား နိုင်ထက်စီးနင်း ပြုလုပ်သော မောက်မာသော ဆိုးမိုက်သော အကြီးအကဲများ၏ စကားများကို နာခံခဲ့ကြ၏။ နောက်ဆုံးတွင် အားလုံးပင် ပျက်စီးသွားခဲ့ကြလေသည်။

အာဒ်အမျိုးသားများသည် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်တော်သင့်ပြီး အပျက်ကြီး ပျက်စီး သွားခဲ့ကြချေပြီ။ ယခုမူ ၎င်းတို့၏ ပျက်စီးယိုယွင်းနေသည့် အိုးအိမ်တိုက်တာ ဂေဟာ၏ အကြွင်းအကျန်များကိုသာ တွေ့ရှိရပေသည်။ ဤသည်တို့ကို နောင်လာနောက်သားလူများတို့သည် တရားမျက်စိဖြင့် ကြည့်ရှုဆင်ခြင်၍ သတိသံဝေဂ နောင်တတရားရယူကြရပေမည်။

ဤအာယတ်တော်တွင် 'ရုစုလဟူ' ထိုအရှင်မြတ်၏တမန်များ ဟူ၍ ဗဟုဝုစ်ကိန်း သုံးထားတော် မူသည်။ ယင်းသို့ ဗဟုဝုစ်ကိန်း သုံးထားတော်မူခြင်းမှာ ပွင့်လေသမျှသော တမန်တော်အပေါင်းတို့၏ သာသနာ သည် တစ်ခုတည်းဖြစ်၏။ အခြေခံသဘောတရားများသည်လည်း တစ်မျိုးတစ်စားတည်းပင် ဖြစ်သည်။ တမန်တော်များသည် အချင်းချင်း ထောက်ခံကြသည်သာ ဖြစ်ကြ၏။ ထို့အတွက်ကြောင့် တမန်တော်တစ်ပါးအား ဆန့်ကျင်ခြင်းသည် တမန်တော်အပေါင်းတို့အား ဆန့်ကျင်ခြင်းမည်၏။ ထို့အတွက်ကြောင့် ဤအာယတ်တော်တွင် တမန်တော်ဟူဒ်အား ဆန့်ကျင်ခြင်းကို တမန်တော်အပေါင်းတို့အား ဆန့်ကျင်ခြင်းဟူ၍ ဗဟုဝုစ်ကိန်းများနှင့် သုံးထားတော်မူခြင်းဖြစ်သည်။

'ဂျုဟူဒ်' သည် စိတ်၌ရှိသောအရာကို မရှိဟူ၍လည်းကောင်း၊ စိတ်၌မရှိသောအရာကို ရှိသည်ဟူ၍ လည်းကောင်း ဆိုခြင်းကိုဆိုလိုသည်။ ရာဃိဗ်။

ဤသည့်သဘောအတိုင်း ကုရ်အာန် (၂၇း၁၄)တွင် သုံးနှုန်းထားတော်မူသည်။

ဤအာယတ်တော်တွင် အာဒ်အမျိုးသားများ၏ သွေဖည်ငြင်းဆန်မနာခံမှုနှင့်စပ်လျဉ်း၍ ဤ'ဂျုဟူဒ်'ဟူသော ပုဒ်ကိုပင် သုံးနှုန်းထားတော်မူရာ အာဒ်အမျိုးသားများသည် အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကိုငြင်းပယ်ခဲ့ကြသည်မှာ ယင်းဒေသနာတော်များကို အလ္လာဟ်အရှင်မြတ်၏ ဒေသနာများဟူ၍ စိတ်တွင်းမှ သိပါလျက်နှင့် သွေဖည်ငြင်းဆန်မနာခံခဲ့ကြခြင်းသာဖြစ်ပေသည်။

⑬ အာဒ်အမျိုးသားများသည် မိမိတို့အား အီမာန်ဘက်သို့လည်းကောင်း၊ မိမိတို့အား ကယ်တင်မည့် ဒေသနာတော်များဘက်သို့လည်းကောင်း၊ ဖိတ်ခေါ်ကြကုန်သော တမန်တော်များအား သွေဖည်ခဲ့ကြ၏။ ၎င်းတို့သည် မိမိတို့အား ကုဖ်ရ်ဘက်သို့လည်းကောင်း၊ မိမိတို့အား ဆုံးရှုံးနစ်နာပျက်စီးစေမည့် အရာဘက်သို့ လည်းကောင်း၊ ဖိတ်ခေါ်ကြသော နှိပ်စက်ကလူပြုကြသော၊ မောက်မာပလွှားကြသော မိမိတို့၏ ခေါင်းဆောင်များ၏ စကားကိုသာ နာခံခဲ့ကြပေသည်။

သတိပြုကြလေကုန်။ ဧကန်မလွဲ အာဒ် အမျိုးသားတို့သည် မိမိတို့အရှင်မြတ်အား ငြင်းပယ်ခဲ့ကြလေသည်။ [၁] သတိပြုကြလေကုန်။ (နဗီတမန်တော်)ဟူဒ်၏ အမျိုးသားများ ဖြစ်ကုန်သော 'အာဒ်' အမျိုးသားတို့၌ (ကရုဏာတော်မှ) ကင်းဝေးခြင်းသည် ရှိစေသတည်း။

أَلَا بُعْدًا لِّعَادٍ قَوْمِ هُودٍ ﴿٦٠﴾

၆၁။ ထိုနည်းတူစွာ (ငါအရှင်မြတ်သည်) 'ဆမူဒ်' *အမျိုးသားတို့ထံ ၎င်းတို့၏အစ်ကို (နဗီတမန်တော်) 'ဆွာလိဟ်' အား* [၂] (စေလွှတ်တော်မူလေသည်။) ထို(နဗီတမန်တော်) 'ဆွာလိဟ်'သည် (မိမိအမျိုးသားတို့အား ဤသို့)ပြောဆိုဟောကြားခဲ့လေသည်။ အို-ငါ၏အမျိုးသားတို့ အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကိုသာလျှင် ခဝပ်ကိုးကွယ် ဆည်းကပ်ကြလေကုန်။ ထိုအရှင်မြတ်မှတစ်ပါး အသင်တို့အဖို့ ကိုးကွယ်ဆည်းကပ်ရာအရှင်ဟူ၍ အလျှင်းမရှိချေ။

وَإِلَىٰ ثَمُودَ أَخَاهُمْ صَالِحًا ۚ قَالَ يَٰقَوْمِ اعْبُدُوا اللَّهَ مَا لَكُم مِّنْ إِلَٰهٍ غَيْرُهُ ۖ هُوَ أَنشَأَكُم مِّنَ الْأَرْضِ وَاسْتَعْمَرَكُمْ فِيهَا فَاسْتَغْفِرُوهُ

---

(၁) 'လအ်နတ်' ကရုဏာတော်နှင့် ကင်းဝေးမှုသည် အာဒ်အမျိုးသားများ၏ နောက်သို့ ထပ်ကြပ်မကွာ လိုက်ပါခဲ့ချေပြီ။ (ဝါ) 'ကံဆိုးမသွားလေရာ မိုးလိုက်လို့ရွာ' ဆိုသကဲ့သို့ ဤပစ္စက္ခဘဝတွင်လည်း အာဒ်အမျိုးသားများ သွားလေရာကို 'လအ်နတ်' သည် ၎င်းတို့၏ နောက်မှ ထက်ကြပ်မကွာ လိုက်ပါချေပြီ။ ကိယာမတ်နေ့တွင်လည်း 'လအ်နတ်သည်' ၎င်းတို့နှင့် ထက်ကြပ်မကွာလိုက်ပါလျက် ရှိချိမ့်မည်။ ကိယာမတ် ပြီးသည့်နောက်တွင်လည်း လအ်နတ်သည် ၎င်းတို့၏ နောက်မှ ထက်ကြပ်မကွာ အမြဲတစေ လိုက်ပါလျက်ပင် ရှိချိမ့်မည်။ ဤကား မည်သူမပြု မိမိမှုပင်တည်း။

'သတိပြုကြကုန်၊ ဧကန်မုချ အာဒ်အမျိုးသားများသည် မိမိတို့၏အရှင်သခင်အား သွေဖည်ငြင်းပယ်ခဲ့ကြလေသည်။' ဤသည် ကုရ်အာန်ကျမ်းလာ ကြွေးကြော်သံကို ကိယာမတ်နေ့တွင်လည်း ကြွေးကြော်မည် ဖြစ်သည်ဟူ၍ အချို့ မုဖတ်စ်စစ်ရ်များက ဖွင့်ဆိုကြသည်။

(၂) **မှတ်ချက်။** Thamud ဆမူဒ်အမျိုးသားမျိုး မျိုးနွယ်ဆက်၊ ၎င်းတို့ နေထိုင်ရာဒေသ၊ ၎င်းတို့၏ခေတ်၊ ၎င်းတို့၏ အယူဝါဒ၊ ၎င်းတို့၏ လူ့ဦးရေ စသည်တို့ကို ကုရ်အာန် (၇း၇၃) ၏ အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။ ပြန်လည်ရှုပါကုန်။

**မှတ်ချက်။** တမန်တော် ဆွာလိဟ်(အလိုင်ဟစ္စလာမ်)၏ အတ္ထုပ္ပတ္တိနှင့် စပ်လျဉ်း၍ ကုရ်အာန်(၇း၇၃)၏ အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။ ပြန်လည်ရှုပါကုန်။

ثُمَّ تُوبُوٓا۟ إِلَيْهِ ۚ إِنَّ رَبِّى قَرِيبٌ مُّجِيبٌ ﴿٦١﴾

ထို အရှင်မြတ်သည်ပင် အသင်တို့အား မြေမှဖြစ်ထွန်းစေတော်မူခဲ့လေသည်။ (စတင်ဖန်ဆင်းတော်မူခဲ့လေသည်)။ ၎င်းပြင် ထိုအရှင်မြတ်သည်ပင် အသင်တို့အား ထိုမြေဝယ် နေထိုင်စေတော်မူခဲ့လေသည်။ [၁] သို့ဖြစ်ပေရာ အသင်တို့သည် ထိုအရှင်မြတ်အထံတော်၌ ချမ်းသာခွင့်ကို ပန်ကြားကြလေကုန်။ ထို့နောက် အသင်တို့သည် ထိုအရှင်မြတ်ဘက်သို့သာ လှည့်ကြလေကုန်။ စင်စစ် ငါ၏အရှင်မြတ်သည် နီးကပ်တော်မူသောအရှင်၊ အကျိုး ပြန်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူချေသည်။

---

(၁) 'ထိုအရှင်မြတ်သည် အသင်တို့အား မြေဖြင့် ဖန်ဆင်းတော်မူခဲ့၏' ယင်းသို့ မိန့်ဆိုထားတော်မူခြင်းမှာ အလ္လာဟ်အရှင် မြတ်သည် လူသားတို့၏ ဖခင်ကြီး အာဒမ်အား မြေဖြင့် ဖန်ဆင်းတော်မူခဲ့ခြင်းကို အကြောင်းပြု၍ မိန့်ဆိုထားတော်မူခြင်း ပင်ဖြစ်သည်။

'ထိုအရှင်မြတ်သည် အသင်တို့အား ကမ္ဘာမြေပြင်၌ နေထိုင်စေတော်မူခဲ့၏။ (သာယာစိုပြည်စေတော်မူခဲ့၏။)' ဤသည့်အာယတ်တော်ကို ထောက်ရှု၍ အချို့ မုဖတ်စ်စစ်ရ်ပညာရှင် သုခမိန်များက လယ်ယာပြုလုပ်ခြင်းအားဖြင့် ဖြစ်စေ၊ ဥယျာဉ်ပန်းမာလ် စိုက်ပျိုးခြင်းအားဖြင့် ဖြစ်စေ၊ ကမ္ဘာမြေပြင်ကို သာယာစိုပြည်အောင် ပြုလုပ်ခြင်းသည် 'ဝါဂျစ်ဗ်' မုချတာဝန်တစ်ရပ်ပင် ဖြစ်သည်ဟု ဖွင့်ဆိုကြသည်။

ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် ဦးစွာပထမ ဘခင်ကြီးအာဒ်မ်အား မြေဖြင့် ဖန်ဆင်းတော်မူ၏။ ထို့နောက် မြေမှ စားဖွယ်သောက်ဖွယ် အာဟာရပစ္စည်းများကို ပေါက်ပွားစေတော်မူ၏။ ထိုအာဟာရများမှ လူသားတို့၏ မွေးဖွားရာဖြစ်သော သုက်ရည်စသည့် ပစ္စည်းများဖြစ်ပေါ်လာ၏။ ထို့အတွက်ကြောင့်ပင် 'ထိုအရှင်မြတ်သည် အသင်တို့အား မြေဖြင့် ဖန်ဆင်းထားတော်မူသည်' ဟု မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား ဖန်ဆင်းတော်မူပြီး ဘေးမဲ့လွှတ်ထားတော်မူသည်မဟုတ်၊ လူသားတို့သက်တမ်းတလျှောက်လုံးတွင် ကောင်းစွာအသက်ရှင်နေနိုင်ရန်အတွက် ကမ္ဘာမြေ တွင် လိုရာပစ္စည်းများကို လိုလေသေးမရှိ အသင့်ဖန်ဆင်းထားတော်မူသည်။ ကမ္ဘာမြေကို စည်ပင်သာယာအောင် ပြုလုပ်ရန် နည်းနာများကိုလည်း ပြသထားတော်မူသည်။ သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်သည် လူသားတို့၏ အကြီးဆုံးသော ကျေးဇူးတော်ရှင်ပင် ဖြစ်တော်မူသည်။ ထို့အတွက်ကြောင့် လူသားတို့သည် ထိုအရှင်မြတ်အားသာလျှင် ဆည်းကပ်ခဝပ်ကိုးကွယ်ကြရပေမည်။ ယခင်က မှားယွင်းမှုများရှိခဲ့ပါက ထိုအရှင်မြတ်ထံတော်၌သာ ဝန်ချ တောင်းပန်အသနားခံကြရပေမည်။ နောက်နောင်အစဉ်တစိုက် မိမိကိုယ်ကို ပြုပြင်၍ သူတော်စင်အဖြစ် နေထိုင်သွားနိုင်ရန်အတွက် ထိုအရှင်မြတ်ဘက်တော်သို့သာ ဦးလှည့်ကြရပေမည်။ ထိုအရှင်မြတ်သည် လူသားတို့နှင့် ဝေးတော်မူသည်မဟုတ်၊ အလွန်တရာမှပင် နီးတော်မူသည်။ စိတ်စေတနာ ဖြူစင်စွာဖြင့် ပန်ကြားသော ဆုမွန်များကိုလည်း ကြားတော်မူသည်။ လက်ခံတော်မူသည်။

قَالُوا يٰصٰلِحُ قَدْ كُنْتَ فِيْنَا مَرْجُوًّا قَبْلَ هٰذَآ اَتَنْهٰنَآ اَنْ نَّعْبُدَ مَا يَعْبُدُ اٰبَآؤُنَا وَاِنَّنَا لَفِيْ شَكٍّ مِّمَّا تَدْعُوْنَآ اِلَيْهِ مُرِيْبٍ ﴿٦٢﴾

၆၂။ ၎င်း('ဆမူဒ်' အမျိုးသား)တို့က (ဤသို့) ပြောဆိုခဲ့ကြလေသည်။ အို- 'ဆွာလိဟ်' ယခင်ကမူ ဇကန်အမှန်အသင်သည် ကျွန်ုပ်တို့တွင် မျှော်လင့်ချက်ထားရှိခြင်းခံရသူ(တစ်ဦး) ဖြစ်ခဲ့လေသည်။ (ယခုသော်ကား) အသင်သည် ကျွန်ုပ်တို့၏အဖ၊ ဘိုး၊ ဘေးများ၊ ကိုးကွယ်ဆည်းကပ်ကြကုန်သောဘုရားများကို ဆည်းကပ်ကိုးကွယ် ခဝပ်ခြင်းမပြုကြရန် ကျွန်ုပ်တို့အား တားမြစ်လေသလော။ စင်စစ်သော်ကား ဇကန်မလွဲ ကျွန်ုပ်တို့သည် အသင် ကျွန်ုပ်တို့အား (ယုံကြည်လိုက်နာရန် ဖိတ်ခေါ်လျက်ရှိသော တရားဓမ္မနှင့် စပ်လျဉ်း၍ ယုံမှားသံသယ ဖြစ်စေသော ဒွိဟသံသယ၌ ရှိနေကြပေသတည်း။

قَالَ يٰقَوْمِ اَرَءَيْتُمْ اِنْ كُنْتُ عَلٰى بَيِّنَةٍ مِّنْ رَّبِّيْ وَاٰتٰىنِيْ مِنْهُ رَحْمَةً فَمَنْ يَّنْصُرُنِيْ مِنَ اللّٰهِ اِنْ عَصَيْتُهٗ فَمَا تَزِيْدُوْنَنِيْ غَيْرَ تَخْسِيْرٍ ﴿٦٣﴾

၆၃။ ထို(နဗီတမန်တော် ဆွာလိဟ်)သည် (၎င်းတို့အား ဤသို့) ပြန်ကြားခဲ့လေသည်။ အို-ငါ၏အမျိုးသားတို့၊ အကယ်၍ ငါသည် မိမိအရှင်မြတ်အထံတော်မှ ထင်ရှားစွာသော သက်သေခံအပေါ်၌ တည်ရှိနေသည့်ပြင် ထိုအရှင်မြတ်သည် ငါ့အား မိမိအထံတော်မှ *တမန်တော်၏အဖြစ်ကို* [1] ချီးမြှင့်ပေးသနားတော်မူခဲ့ပါလျှင် အသင်တို့သည် မည်သို့ယူဆကြမည်ကို ငါ့အား ပြောပြကြလေကုန်။ တစ်ဖန် အကယ်၍ ငါသည် အလ္လာဟ်အရှင်မြတ်၏(အမိန့်တော်)ကို ဖီဆန်ခဲ့ပါမူ မည်သူသည် ငါ့အားထိုအရှင်မြတ်၏ပြစ်ဒဏ်မှ ကာကွယ်နိုင်မည်နည်း။ ထိုသို့ဖြစ်ခဲ့လျှင် အသင်တို့သည် ငါ့အား ကျိုးယုတ်နစ်နာဆုံးရှုံးစေခြင်းမှတစ်ပါး အခြားတစ်စုံတစ်ရာကိုမျှ တိုးပွားစေနိုင်ကြမည် မဟုတ်ပေတကား။

---

(၁) ဤအာယတ်တော်တွင် 'ရဟ်မတ်' ဟူသည် နုဗုဝါတ် တမန်တော်အဖြစ်ကို ဆိုလိုသည်။
ကြည့် - မအာလင်မ်။

وَيٰقَوْمِ هٰذِهٖ نَاقَةُ اللّٰهِ لَكُمْ اٰيَةً فَذَرُوْهَا تَاْكُلْ فِيْٓ اَرْضِ اللّٰهِ وَلَا تَمَسُّوْهَا بِسُوْٓءٍ فَيَاْخُذَكُمْ عَذَابٌ قَرِيْبٌ ﴿٦٤﴾

၆၄။ ၎င်းပြင် အို-ငါ၏အမျိုးသားတို့၊ အလ္လာဟ်အရှင်မြတ်၏ ကုလားအုပ်မသည် အသင်တို့အဖို့ သက်သေလက္ခဏာတရပ်ပင်။ သို့ဖြစ်ပေရာ အသင်တို့သည် ထိုကုလားအုပ်မကို အလ္လာဟ်အရှင်မြတ်၏ ပထဝီမြေ၌ စားသောက်နေထိုင်ရန် လွှတ်ထားကြလေကုန်။ ၎င်းပြင်အသင်တို့သည် ယင်းကုလားအုပ်မအား အကျိုး ယုတ်စေသော ရည်ရွယ်ချက်ဖြင့် မထိကြကုန်လင့်။ ထိုသို့ပြုခဲ့ကြလျှင် ချက်ချင်းဆိုက်ရောက်လာမည်ဖြစ်သော ပြစ်ဒဏ်သည် အသင်တို့အား ဖမ်းဆီး(ကွပ်မျက်)အံ့သတည်း။

فَعَقَرُوْهَا فَقَالَ تَمَتَّعُوْا فِيْ دَارِكُمْ ثَلٰثَةَ اَيَّامٍ ۗ ذٰلِكَ وَعْدٌ غَيْرُ مَكْذُوْبٍ ﴿٦٥﴾

၆၅။ သို့ (သတိ ပေးခဲ့)ပါလျက် ၎င်းတို့သည် ယင်းကုလားအုပ်မ၏ခြေများကို ဖြတ်တောက်ခဲ့ကြလေသည်။ ထိုအခါ ထို(နဗီတမန်တော်)ဆွာလိဟ်သည် (၎င်းတို့အား ဤသို့)ပြောကြားခဲ့လေသည်။ (အချင်းတို့) အသင်တို့သည် သုံးရက်မျှတိုင်အောင် မိမိတို့၏နေအိမ်များတွင် စည်းစိမ်ခံ၍နေထိုင်ကြဦးလော့၊ (ထို့နောက်တွင် ပြစ်ဒဏ်သက်ရောက်တော်မူမည်) ဤသည် မုသားမဟုတ်၊ (ပကတိ မှန်ကန်)သော ချိန်းချက်ပင်တည်း။

فَلَمَّا جَآءَ اَمْرُنَا نَجَّيْنَا صٰلِحًا وَّالَّذِيْنَ اٰمَنُوْا مَعَهٗ بِرَحْمَةٍ مِّنَّا وَمِنْ خِزْيِ يَوْمِىِٕذٍ ۗ اِنَّ رَبَّكَ هُوَ الْقَوِيُّ الْعَزِيْزُ ﴿٦٦﴾

၆၆။ တစ်ဖန် (သုံးရက်ကုန်၍) ငါအရှင်မြတ်၏ အမိန့်တော်ရောက်ရှိလာသောအခါ ငါအရှင်မြတ်သည် (နဗီတမန်တော်)ဆွာလိဟ်နှင့်တကွထို(နဗီတမန်တော်)ဆွာလိဟ်နှင့်အတူ သက်ဝင်ယုံကြည်ခဲ့ကြသောသူတို့ကိုပါ မိမိကရုဏာတော်ဖြင့် ပျက်စီးခြင်း၏ ပြစ်ဒဏ်မှလည်းကောင်း၊ထိုနေ့တွင် [၁] အရှက်တကွဲ အကျိုးနည်းဖြစ်ခြင်းမှလည်းကောင်း ကယ်တင်တော်မူခဲ့လေသည်။

(၁) 'ထိုနေ့၏ အရှက်တကွဲ အကျိုးနည်းဖြစ်ခြင်းမှ' ဟူသော ဝါကျတွင် ပါရှိသော 'ထိုနေ့' သည် ➤➤

ဧကန်စင်စစ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် ခွန်အားကြီးမားတော်မူသောအရှင်၊ လွှမ်းမိုးတော်မူသောအရှင်၊ ဖြစ်တော်မူပေတည်း။

وَاَخَذَ الَّذِيْنَ ظَلَمُوا الصَّيْحَةُ فَاَصْبَحُوْا فِيْ دِيَارِهِمْ جٰثِمِيْنَ ﴿٦٧﴾

၆၇။ သို့ရာတွင် မတရားပြုမူသော သူတို့အား ကျယ်လောင်သောအသံသည် ဖမ်းဆီးကွပ်မျက်ခဲ့လေသည်။ သို့ဖြစ်ပေရာ ၎င်းတို့သည် မိမိတို့ နေအိမ်များတွင် နံနက်အချိန်၌ မှောက်လျက် (သေကြေပျက်စီးသွားခဲ့ကြလေသည်။)

كَاَنْ لَّمْ يَغْنَوْا فِيْهَا ۗ اَلَآ اِنَّ ثَمُوْدَا۟ كَفَرُوْا رَبَّهُمْ ۗ اَلَا بُعْدًا لِّثَمُوْدَ ﴿٦٨﴾

၆၈။ ၎င်းတို့သည် ထိုအိမ်များတွင် မနေခဲ့ဘူးကြသကဲ့သို့ပင် ဖြစ်သွားခဲ့ကြလေသည်။ သတိပြုကြလေကုန်။ ဧကန်အမှန်'ဆမူဒ်' အမျိုးသားတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်(၏အမိန့်တော်)ကို သွေဖည်ငြင်းဆန်ခဲ့ကြကုန်သည်။ သတိပြုကြလေကုန်။ 'ဆမူဒ်' အမျိုးသားတို့၌ (ကရုဏာတော်မှ)ကင်းဝေးခြင်းသည် ရှိစေသတည်း၊[၁]

---

➢➢ ဤလောကတွင် ဆမူဒ်အမျိုးသားများ ပြစ်ဒဏ်တော် သင့်သောနေ့ကိုလည်း ဆိုနိုင်သည်။ ကိယာမတ်နေ့ဟူ၍လည်း ယူဆနိုင်သည်။ အဆို -၂ မျိုးလုံးရှိသည်။

(၁) **ဆက်စပ်မှု။**

အထက်တွင် ဆမူဒ်အမျိုးသားများ၏ အကြောင်းပါရှိ၏။ ကုန်အာန်ကျမ်းမြတ်တွင် များစွာသောနေရာများ၌ ဆမူဒ်အမျိုးသားများ၏အကြောင်း နောက်တွင် တမန်တော်လူတ်၏ အမျိုးသားများ၏အကြောင်းကို တွေ့ရှိရပေမည်။ ဤနေရာတွင် ဆမူဒ်အမျိုးသားများ၏အကြောင်းနှင့် တမန်တော်လူတ်၏ အမျိုးသားများ၏ အကြောင်းများစပ်ကြားတွင် တမန်တော် အီဗ်ရာဟီမ်၏အကြောင်းကို ကြားညှပ် မိန့်ဆိုထားတော်မူသည်။ သို့ရာတွင် တမန်တော်အီဗ်ရာဟီမ်က ကုရ်အာန်(၁၅:၅၇။ ၅၁:၃၁)တွင် လာရှိသည့်အတိုင်း ကောင်းကင်တမန်များအား 'အသင်တို့၏ကိစ္စကား အသို့ပါနည်း' ဟူ၍ မေးမြန်းခြင်းကို ထောက်ရှုခြင်းအားဖြင့် ကောင်းကင်တမန်တော်များ ရောက်ရှိလာခြင်း၏ အဓိကရည်ရွယ်ချက်မှာ တမန်တော်လူတ်၏ အမျိုးသားများကို ပြစ်ဒဏ်ခတ်ရန်ပင် ဖြစ်ကြောင်း သိရှိရပေသည်။ ဆမူဒ်အမျိုးသားများနှင့် တမန်တော်လူတ်၏ အမျိုးသားများ၏အကြောင်းများ စပ်ကြားတွင် တမန်တော်အီဗ်ရာဟီမ်၏အကြောင်း မိန့်ဆိုထားတော်မူခြင်းမှာ ထူးခြားသည့်အချက်များ ရှိနေသည့်အတွက်ပင် ဖြစ်သည်။ 

وَلَقَدْ جَاءَتْ رُسُلُنَا إِبْرٰهِيمَ بِالْبُشْرٰى قَالُوا سَلٰمًا قَالَ سَلٰمٌ فَمَا لَبِثَ أَنْ جَاءَ بِعِجْلٍ حَنِيذٍ ﴿٦٩﴾

၆၉။ ၎င်းပြင် မချွတ်မလွဲ ငါအရှင်မြတ်၏ (ကောင်းကင်) တမန်များသည် (နဗီတမန်တော် အီဗ်ရာဟီမ်၏ထံသို့ ဝမ်းမြောက်ဖွယ်ရာ သတင်းကောင်းကို ဆောင်ယူခဲ့ကြလေသည်။ (ထို့နောက်) ၎င်းတို့က (နဗီတမန်တော်အီဗ်ရာဟီမ်အား) 'စလာမ်' (အသင်သည်) ငြိမ်းချမ်းစွာရှိပါစေသား ဟုပြောဆို (နှုတ်ခွန်းဆက်)ခဲ့ကြပေရာ၊

➤➤ (က) တမန်တော်အီဗ်ရာဟီမ်နှင့် တမန်တော်လူတ္တ် ၂-ပါးတွင် အထူးဆက်စပ်လျက်ရှိသော အချက်များရှိပေသည်။ ဥပမာ-တမန်တော်လူတ္တ်၏ အမျိုးသားများကို ပြစ်ဒဏ်ခတ်ရန် အတွက် တမန်တော်လူတ္တ်ထံသို့ ရောက်ရှိလာသော ကောင်းကင်တမန်များသည် တမန်တော်အီဗ်ရာဟီမ်ထံသို့ ရောက်ရှိလာခဲ့ကြသော ကောင်းကင်တမန်များပင် ဖြစ်ကြပေသည်။

တမန်တော်အီဗ်ရာဟီမ်နှင့် တမန်တော်လူတ္တ် ၂-ပါးတို့မှာ အချင်းချင်း အလွန်နီးစပ်သော သားချင်းအရင်းအချာများလည်း ဖြစ်ကြပေသည်။ (တမန်တော်လူတ္တ်သည် တမန်တော် အီဗ်ရာဟီမ်၏ အဒေါ်၏သားဖြစ်သည်။ တမန်တော်အီဗ်ရာဟီမ်နှင့်အတူ အီရတ်မှ 'ဟစ်ဂျ်ရတ်' စွန့်ခွာထွက်ခဲ့ပေသည်။) တမန်တော် အီဗ်ရာဟီမ်နှင့် တမန်တော်လူတ္တ် ၂-ပါးတို့၏ နေထိုင်ရာဒေသများမှာလည်း အချင်းချင်းနီးကပ်လျက် ရှိပေသည်။

တမန်တော်အီဗ်ရာဟီမ်သည် တမန်တော်လူတ္တ်၏အမျိုးသားများ ချမ်းသာခွင့် ရရှိရန်နှင့် စပ်လျဉ်း၍လည်း အလ္လာဟ်အရှင်မြတ်အထံတော်တွင် အထူးတလည် လျှောက်ထားပန်ကြားခဲ့သည်။ ထို့ပြင်တဝ တမန်တော်အီဗ်ရာဟီမ်သည် သီးသန့် ရှရီအတ်ရှင်ဖြစ်၍ တမန်တော်လူတ္တ်မှာ တမန်တော်အီဗ်ရာဟီမ်၏ လက်ထောက်တမန်တော်ဖြစ်ချေသည်။

(ခ) ထို့ပြင်တဝ အဆိုပါ အတ္ထုပ္ပတ္တိ ၂-ရပ်ကို ဒွန်တွဲမိန့်ဆိုထားတော်မူခြင်းကို ထောက်ရှုခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်နှင့် အမျက်တော်သည် အရှင်မြတ်၏ ဒေသနာတော်များကို နာခံခြင်းနှင့် မနာခံခြင်းအပေါ်၌ တည်ရှိနေသည်မှာလည်း ထင်ရှားသွားပေသည်။ အဆိုပါ အတ္ထုပ္ပတ္တိ ၂-ရပ်တွင် ကောင်းကင်တမန်များသည် အမိန့်တော် နာခံသူများအားကောင်းချီးသတင်း ပေးခဲ့ကြသည်။ ယင်းကောင်းကင်တမန်များသည်ပင် အမိန့်တော်ကို သွေဖည်ငြင်းဆန် မနာခံသူတို့အား ပြစ်ဒဏ်ခတ်ခဲ့ကြပေသည်။

(ဂ) ထို့ပြင်တဝ အဆိုပါအတ္ထုပ္ပတ္တိ ၂-ရပ်သည် အချင်းချင်းအထောက်အမပြုလျက်ရှိပေသည်။ အတ္ထုပ္ပတ္တိတစ်ရပ်သည် အခြားအတ္ထုပ္ပတ္တိတစ်ရပ်ကို ပြည့်စုံစေလျက်ရှိပေသည်။

အထက်ပါအကြောင်းကြောင်းများကို ထောက်ရှုခြင်းအားဖြင့် ဤနေရာတွင်လည်း အခြားနေရာများကဲ့သို့ပင် တမန်တော်လူတ္တ်၏ အမျိုးသားများ၏ အတ္ထုပ္ပတ္တိကို ထုတ်ဖော်မိန့်ဆိုတော်မူရန်မှာ အဓိကဖြစ်ကြောင်း၊ အတ္ထုပ္ပတ္တိများသည် အချင်းချင်း ဆက်စပ်လျက်ရှိကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။

(ထာနဝီ)၊ အ-၅။ စ-၅၆။

ထို(နဗီတမန်တော်) အီဗ်ရာဟီမ်က (အသင်တို့သည်လည်း) ငြိမ်းချမ်းစွာ ရှိကြပါစေသားဟု (တုန့်ပြန်)ပြောဆို (နှုတ်ခွန်းဆက်)ခဲ့လေ၏။ ¹ ထို့နောက် ထို(နဗီတမန်တော်) အီဗ်ရာဟီမ်သည် ကင်ထားသော နွားကလေးကို မဆိုင်းမတွ ယူဆောင်(၍ ဧည့်ခံ)ခဲ့လေသည်။

---

(၁) (အထက်တွင် ဆက်စပ်မှု၌ ရေးသားဖော်ပြခဲ့သည့်အတိုင်း) တမန်တော် အီဗ်ရာဟီမ်နှင့် တမန်တော်လူတ်တွင် ဆက်စပ်လျက်ရှိသော အချက်အလက်များ အများအပြားရှိသည့်အတွက် ဤနေရာတွင် တမန်တော်လူတ်၏ အမျိုးသားများ၏အကြောင်းကို မိန့်ဆိုတော်မမူမီ တမန်တော်အီဗ်ရာဟီမ်၏အကြောင်းကို စကားပလ္လင်အနေဖြင့် မိန့်ဆိုထားတော်မူသည်။

တမန်တော်လူတ်၏အမျိုးသားများ ပြစ်ဒဏ်ခတ်ရန်အတွက် ဆင်းသက်လာခဲ့ကြသော ကောင်းကင်တမန်များသည် အလွန်လှပသော လူငယ်များ၏ ရုပ်ဆင်းသဏ္ဍာန်ဖြင့် တမန်တော်လူတ်ထံသို့ အသွားတွင် တမန်တော်အီဗ်ရာဟီမ်ထံသို့ ဦးစွာပထမဝင်ခဲ့ကြ၏။ စလာမ်ပေးခဲ့ကြ၏။ တမန်တော်အီဗ်ရာဟီမ်ကလည်း စလာမ်ပြန်ခဲ့၏။

ကောင်းကင်တမန်များသည် ကြင်ရာတော်စာရဟ်သခင်မ၌ သားရတနာထွန်းကားမည့်အကြောင်း ကောင်းချီးသတင်းပေးခဲ့ကြ၏။

တမန်တော်အီဗ်ရာဟီမ်သည် ပထမသော် ကောင်းကင်တမန်များအား ကောင်းကင်တမန်များ ဖြစ်ကြောင်း မသိခဲ့ပေ။ လူသားဧည့်သည်များ ဖြစ်ကြသည်ဟူ၍ပင် ထင်ခဲ့၏။ ထို့အတွက်ကြောင့်လည်း ဧည့်ဝတ် အထူးကျေပြွန်တော်မူလေ့ရှိသော တမန်တော်အီဗ်ရာဟီမ်သည် ကောင်းကင်တမန်များအား နွားကင်ဖြင့် တည်ခင်းဧည့်ခံတော်မူခဲ့လေသည်။

ဤအာယတ်တော်တွင် ပါရှိသော 'ရုစုလ်' ဟူသည် ကောင်းကင်တမန်များကို ဆိုလိုသည်။ ယင်းကောင်းကင်တမန်များသည် ၉-ပါးဖြစ်သည်ဟူ၍လည်း အဆိုရှိသည်။ သုံးပါးဖြစ်သည်ဟူ၍လည်း အဆိုရှိသည်။ ထိုသုံးပါးကား ကောင်းကင်တမန် ဂျစ်ဗ်ရီလ်၊ မီကာအီလ်နှင့် အစ္စရာဖီလ်တို့ဖြစ်ကြသည်။ ဗိုင်သွာဝီ။

ဤအာယတ်တော်တွင် ကောင်းချီးသတင်းဟူသည် သားရတနာ ထွန်းကားမည့်အကြောင်းကို ဆိုလိုသည်။ အချို့အဆိုအရ တမန်တော်လူတ်၏ အမျိုးသားများကို ပျက်စီးမည့်အကြောင်းကိုဆိုလိုသည်။

__ဖေါ်ပြချက်။__

ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း ကောင်းကင်တမန်များက တမန်တော်အီဗ်ရာဟီမ်အား 'စလာမ်'ပေးခဲ့ကြ၏။ တမန်တော် အီဗ်ရာဟီမ်ကလည်း စလာမ်ပြန်တော်မူခဲ့လေ၏။

ဤသည့်အချက်ကို ဆင်ခြင်၍ မုဖတ်စ်စိရီန်ပညာရှင် သုခမိန်များက စလာမ်သည် ကောင်းကင်တမန်တို့၏ လမ်းစဉ်ဖြစ်သည်။ မွတ်စ်လင်မ်တို့၏ ခေတ်တိုင်းတွင်လည်း စလာမ်သည် ပြန့်နှံ့ခဲ့သည်ဟုဆိုကြလေသည်။

فَلَمَّا رَآ أَيْدِيَهُمْ لَا تَصِلُ إِلَيْهِ نَكِرَهُمْ وَأَوْجَسَ مِنْهُمْ خِيفَةً قَالُوا لَا تَخَفْ إِنَّا أُرْسِلْنَا إِلَىٰ قَوْمِ لُوطٍ ۝٧٠

၇၀။ တစ်ဖန် ထိုစေတမန်များ၏ လက်များသည် ထိုကင်ထားသော နွားကလေးသို့ ကမ်းလှမ်းခြင်းမရှိသည်ကို ယင်း(နဗီတမန်တော်) အီဗ်ရာဟီမ်တွေ့မြင်ခဲ့လေရာ ထို(နဗီတမန်တော်)အီဗ်ရာဟီမ်သည် ၎င်းတို့အား မယုံသင်္ကာဖြစ်ခဲ့လေ၏။ ထို့ပြင် ယင်း(နဗီတမန်တော်)အီဗ်ရာဟီမ်သည် (မိမိ)စိတ်ထဲတွင် ၎င်းတို့ဖက်မှ စိုးရိမ်ခဲ့လေ၏။

(ထိုအခါ) ၎င်းစေတမန်တို့က (အို-နဗီတမန်တော်အီဗ်ရာဟီမ်) အသင်သည် မစိုးရိမ်ပါလေနှင့်၊ ဧကန်စင်စစ် ကျွန်ုပ်တို့သည် (နဗီတမန်တော်လူတ်၏အမျိုးသားတို့ထံ စေလွှတ်ခြင်းခံခဲ့ကြရ(ကုန်သော ကောင်းကင်စေတမန်များပင် ဖြစ်ကြ)သည်ဟု ပြောဆိုခဲ့ကြလေသတည်း။ ၁

(၁) တမန်တော်အီဗ်ရာဟီမ်သည် မိမိတည်ခင်း ဧည့်ခံကျွေးမွေးသော စားဖွယ်သောက်ဖွယ်များကို ဧည့်သည်များသည် လက်ဖျားဖြင့်ပင် မတို့ကြသည်ကို တွေ့မြင်သောအခါ ယင်းဧည့်သည်များနှင့် ပတ်သက်၍ ဤဧည့်သည်များသည် တည်ခင်းကျွေးမွေးထားသော အစားအသောက်များကိုလည်း မစားသုံးကြ၊ ဤသူများကား မည်သူမည်ဝါများပါလိမ့်၊ အဘယ်အရေးကိစ္စကြောင့် လာခဲ့ကြသနည်း၊ ဟု တွေးတောကာ စိုးရိမ်မကင်းဖြစ်လေသည်။ အဘယ်ကြောင့်ဆိုသော် ထိုခေတ်ထိုအခါတွင် ဧည့်ခံကျွေးမွေးသောအရာကို ငြင်းပယ်သော ဧည့်သည်အား ကောင်းသောစေတနာဖြင့် လာသည်ဟု ယူဆလေ့မရှိခဲ့ကြပေ။ ထို့အတွက် တမန်တော်အီဗ်ရာဟီမ်သည်လည်း တွေးတောစိုးရိမ်သည်မှာ အကယ်၍ ဤပုဂ္ဂိုလ်များသည် လူသားစင်စစ် ဖြစ်ကြပါလျှင် မိမိဧည့်ခံကျွေးမွေးသော စားဖွယ်သောက်ဖွယ်ရာများကို မစားသုံးခြင်း၏ အဓိပ္ပာယ်ကားမကောင်းပေ။ အကယ်၍ ဤပုဂ္ဂိုလ်များသည် ကောင်းကင်တမန်များ ဖြစ်နေကြလျှင် ၎င်းတို့သည် အဘယ်အရေးကိစ္စကြောင့် လာခဲ့ကြသည်။ မိမိ၌ အပြည့်အစုံ ရှိနေလေသလော၊ . . . သို့တည်းမဟုတ် မိမိ၏ အမျိုးသားများနှင့် ပတ်သက်၍ စိတ်မနှစ်မြို့ဖွယ်ရာ တစ်စုံတစ်ရာကိုယူ၍ လာခဲ့ကြသလော စသည်ဖြင့် အမျိုးမျိုးတွေးတောကာ စိုးရိမ်မိလေသည်။ ယင်းသို့ စိုးရိမ်နေသည့်အတောအတွင်းမှာပင် ကုရ်အာန်ကျမ်းမြတ်(၁၅း၅၂)တွင်လာရှိသည့်အတိုင်း 'ကျွန်ုပ်သည် အသင်တို့ဘက်မှ စိုးရိမ်ပါသည်' ဟူ၍ ထုတ်ဖော်ပြောဆို လိုက်လေတော့သည်။ ထိုအခါ ကောင်းကင်တမန်များက တမန်တော်အီဗ်ရာဟီမ်အား 'အသင် မစိုးရိမ်ပါနှင့်၊ ကျွန်ုပ်တို့သည် တမန်တော်လူတ်၏ အမျိုးသားများကို ပြစ်ဒဏ်ခတ်ရန် စေလွှတ်တော်မူခြင်းခံရသော ကောင်းကင်တမန်များ ဖြစ်ကြပါသည်' ဟု ဖွင့်ဟပြောဆိုကြလေသည်။

وَامْرَاَتُهٗ قَآئِمَةٌ فَضَحِكَتْ فَبَشَّرْنٰهَا بِاِسْحٰقَ ۙ وَمِنْ وَّرَآءِ اِسْحٰقَ يَعْقُوْبَ ۝٧١

၇၁။ ထိုအခါ ယင်း(နဗီတမန်တော်) အီဗ်ရာဟီမ်၏ ကြင်ရာတော်(စာရာ)သည် မတ်တပ်ရပ်လျက် [၁] ရှိခဲ့ပေရာ (ဤကောင်းချီးသတင်းကိုသိ၍) ရယ်မောခဲ့လေ၏။ တစ်ဖန် ငါအရှင်မြတ်သည် ထို(နဗီတမန်တော် အီဗ်ရာဟီမ်၏) ကြင်ရာတော်အား (ယင်းစေတမန်တို့မှတဆင့် နဗီတမန်တော်) အစ္စဟာက်(ကို ဖွားမြင်မည့်အကြောင်း)နှင့် ထို(နဗီတမန်တော်) အစ္စဟာက်၏နောက်တွင် (မြေးတော် နဗီတမန်တော်) ယအ်ကူဗ် (သည်လည်း ဖွားမြင်မည့် အကြောင်း) သတင်းကောင်းကို ပြောကြားတော်မူခဲ့လေ၏။ [၂]

قَالَتْ يٰوَيْلَتٰٓى ءَاَلِدُ وَاَنَا عَجُوْزٌ وَّهٰذَا بَعْلِىْ شَيْخًا ؕ اِنَّ هٰذَا لَشَىْءٌ عَجِيْبٌ ۝٧٢

၇၂။ (ထိုအခါ) ထိုကြင်ရာတော်(စာရာ)က သြော်- အကျိုးနည်းရလေခြင်း။ ကျွန်ုပ်သည် သားဖွားဦးမည်လော။ စင်စစ်သော်ကား ကျွန်ုပ်သည် အသက်အရွယ်ကြီးရင့်သော အမယ်အိုတစ်ဦး ဖြစ်ရုံမျှမက ဤကျွန်ုပ်၏ခင်ပွန်း (နဗီတမန်တော် အီဗ်ရာဟီမ်) သည်လည်း အသက်အရွယ် ကြီးရင့်သော အဘိုးအို တစ်ဦးပင် ဖြစ်ချေသည်။ ဧကန်စင်စစ် ဤသည် အလွန်အံ့ဖွယ်ရာ စကားတစ်ရပ်ပင် ဖြစ်ပေသည် တကားဟု ပြောဆိုခဲ့ပေသတည်း။ [၃]

---

(၁) ဤအာယတ်တော်တွင် တမန်တော်အီဗ်ရာဟီမ်၏ ကြင်ရာတော်ဟူသည် တမန်တော်အီဗ်ရာဟီမ်၏ ပထမကြင်ရာတော် စာရဟ်သခင်မကို ဆိုလိုသည်။ တမန်တော်အီဗ်ရာဟီမ်နှင့် ကောင်းကင်တမန်များ ထိုသို့ စကားပြောနေကြသည့်နေရာတွင် ကြင်ရာတော် စာရဟ်သခင်မသည် မရှိခဲ့ပေ။ ကောင်းကင်တမန်များအား သူစိမ်းတရံဆံများဟု ထင်မှတ်ကာ'ဟိဂျာဗ်' 'ပရ်ဒဟ်' ၌ ခပ်လှမ်းလှမ်းတွင် မတ်တပ်ရပ်နေခဲ့ဟန်တူသည်။ ထို့နောက်ရောက်ရှိလာသော ဧည့်သည်များမှာ လူသားများမဟုတ်၊ ကောင်းကင်တမန်များ ဖြစ်နေကြောင်းကို သိရသောအခါ ပရ်ဒဟ်ထားရန်မလို၍ ရှေ့သို့ ထွက်လာခဲ့ဟန်တူသည်။ ဤသည့်သဘောကို ကုရ်အာန်(၅၁:၁၉) တွင် လာရှိသည့် (فَاَقْبَلَتْ) ဟူသောပုဒ်ကလည်း ထောက်ခံလျက်ရှိပေသည်။ ကြည့်-ထာနဝီ။

(၂) 'စာရဟ် သခင်မသည် ဧည့်သည်များအား ဧည့်ခံရန်အတွက်၊ သို့မဟုတ် အခြားကိစ္စတစ်ခုခုအတွက် ထိုနေရာတွင် မတ်တပ်ရပ်လျက် ရှိနေခဲ့၏။ စိုးရိမ်မှု ကင်းသွားသည့်အခါ ဝမ်းသာ၍ ရယ်မောမိလေသည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်က စာရဟ်သခင်မအား ထိုသို့ ဝမ်းသာနေစဉ် ထပ်မံ၍ ဝမ်းသာစေရန် ➤➤

قَالُوٓا۟ أَتَعْجَبِينَ مِنْ أَمْرِ ٱللَّهِ ۖ رَحْمَتُ ٱللَّهِ وَبَرَكَٰتُهُۥ عَلَيْكُمْ أَهْلَ ٱلْبَيْتِ ۚ إِنَّهُۥ حَمِيدٌ مَّجِيدٌ ﴿٧٣﴾

၇၃။ ထိုစေတမန်တို့က (နဗီတမန်တော်အီဗ်ရာဟီမ်၏ကြင်ရာတော် စာရဟ်သခင်မအား ဤသို့) ပြောဆိုဖြေကြားခဲ့ကြလေသည်။ အသင်သည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်ကို *အံ့ဩ၍နေပါသလော။* [၁] အို-(နဗီတမန်တော်အီဗ်ရာဟီမ်၏)*အိမ်သူအိမ်သားတို့၊* [၂] အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ ကောင်းချီးမင်္ဂလာအဖြာဖြာတို့သည်လည်းကောင်း၊ အသင်တို့အပေါ်၌ ကျရောက်မြဲပင် ဖြစ်ချေသည်။ ဧကန်မလွဲ ထိုအရှင်မြတ်သည် ချီးမွမ်း ထောပနာပြုခြင်းကို ခံထိုက်တော်မူသောအရှင်၊ အထူး ဂုဏ်ကျက်သရေနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

---

➤➤ အလို့ငှာ ကောင်းချီး သတင်းပေးတော်မူသည်မှာဂါအရှင်မြတ်သည် အသင့်၌ ဤသည့်အသက်အရွယ်၌ပင် သားတော် အစ္စဟာက်ကို ထွန်းကားစေတော်မူမည်။ ထိုနောက်သားတော် အစ္စဟာက်မှ မြေးတော် ယအ်ကူဗ် (အစ္စရာအီလ်)ကို ထွန်းကားစေတော်မူဦးမည်။ ထိုမြေးတော် ယအ်ကူဗ်မှ အလွန်ကြီးကျယ်သော အစ္စရာအီလီမျိုးနွယ် ထွန်ကားမည် ဖြစ်သည်ဟူ၏။

ယခုကဲ့သို့ စာရဟ်သခင်မအား ကောင်းချီးသတင်းပေးတော်မူခြင်းမှာ တမန်တော်အီဗ်ရာဟီမ်၏ ဒုတိယကြင်ရာတော် ဟာဂိုရဟ်သခင်မ၌ သားတော် အစ္စမာအီလ်သည် ယခင်ကပင် ထွန်းကားပြီး ဖြစ်နှင့်ခဲ့၏။ ထို့အတွက် စာရဟ်သခင်မသည်လည်း သားရတနာရရှိရန် တောင်းတခဲ့၏။ သို့ရာတွင် စာရဟ်သခင်မသည် အသက်အရွယ် အလွန်ကြီးရင့်သွားပြီ ဖြစ်သည့်အတွက် သားရတနာရရှိရန် မျှော်လင့်ချက် မထားရှိခဲ့တော့ပေ။ ဤသို့ မျှော်လင့်ချက် မရှိတော့သည့်အချိန်ကျမှ သားရတနာရရှိမည့်အကြောင်း ကောင်းချီးသတင်း ကြားသိရသောအခါ အံ့ဩခြင်းကြီးမက အံ့ဩမိခြင်း ဖြစ်ပေသည်။

(၉) စာရဟ်သခင်မသည် အသက်အရွယ်အားဖြင့် ကြီးရင့်လှပေပြီ၊ ခင်ပွန်းသည်ဖြစ်သော တမန်တော်အီဗ်ရာဟီမ်မှာလည်း အသက်အရွယ်အားဖြင့် ကြီးရင့်လှပေပြီ။ ထိုအချိန်တွင် စာရဟ်သခင်မ၏အသက်မှာ (၉၉)ရှိ၍ တမန်တော်အီဗ်ရာဟီမ်၏ အသက်မှာ (၁၀၀)သို့မဟုတ် (၁၀၁)အထက်ပင် ကျော်လျက်ရှိချေပြီဟု အဆိုရှိပေသည်။ ကြည့်-အွတ်ဆ်မာနီ၊ စ-၂၉၇။ အအ-၉။ ထိုသို့ ဇနီးမောင်နှံ ၂-ဦးလုံး အသက်အရွယ်ကြီးရင့်၍ လူ့သဘာဝအလျောက် သားသမီးထွန်းကားရန် မျှော်လင့်ချက် လုံးဝကုန်ဆုံးနေသည့်အချိန်တွင် ယခုကဲ့သို့ သားရတနာထွန်းကားမည့်အကြောင်း ကြားသိရသောအခါ စာရဟ်သခင်မသည် အံ့ဩမိခဲ့လေသည်။ ဤသို့အံ့ဩမိခြင်းမှာ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ကို မယုံကြည်၍မဟုတ်၊ လူ့သဘာဝအလျောက် အံ့ဩမိခြင်းသာ ဖြစ်ပေသည်။

(၁) စာရဟ်သခင်မ၏ အံ့ဩခြင်းနှင့်စပ်လျဉ်း၍ ကောင်းကင်တမန်များက ချေပပြောဆိုကြသည်မှာ -➤➤

فَلَمَّا ذَهَبَ عَنْ إِبْرٰهِيمَ الرَّوْعُ وَجَآءَتْهُ الْبُشْرٰى يُجَادِلُنَا فِى قَوْمِ لُوطٍ ﴿٧٤﴾

၇၄။ တစ်ဖန် (နဗီတမန်တော်) အီဗ်ရာဟီမ်(၏ စိတ်ထဲ)မှ စိုးရိမ်မှုသည် ကင်းရှင်း၍သွားပြီးနောက် ယင်း၏ထံသို့ ဝမ်းမြောက်ဖွယ်ရာ သတင်းကောင်း ရောက်ရှိလာသောအခါထို(နဗီတမန်တော်)အီဗ်ရာဟီမ် သည် (နဗီတမန်တော်)လူတ်၏ အမျိုးသားတို့နှင့် ပတ်သက်၍ငါအရှင်မြတ်(၏ ကောင်းကင်တမန်များ) နှင့် *အငြင်းအခုံ ပြုလုပ်လေတော့သည်။* [၁]

---

➤➤ ဤသည် အံ့သြဘွယ်ရာမဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြစ်သည်။ အထူးသဖြင့် တမန်တော် အီဗ်ရာဟီမ်၏ အိမ်သူအိမ်သားများအဖို့ကား သာ၍ပင် အံ့သြဘွယ်မဟုတ်ချေ။ အဘယ်ကြောင့်ဆိုသော် တမန်တော်အီဗ်ရာဟီမ်၏ အိမ်သူအိမ်သားများအပေါ်တွင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်များနှင့် ကျက်သရေမင်္ဂလာ အဖြာဖြာတို့သည် အမြဲတစေ သက်ရောက်လျက်ရှိပေသည်။ ထိုအိမ်သူအိမ်သားများသည် တန်ခိုးဗျာဒိတ်များ ဖြစ်လေ့ဖြစ်ထရှိသော အရာများနှင့် ဆန့်ကျင်သည့် ထူးထွေဆန်းပြားလှသော အံ့သြဘွယ် ရာများကိုလည်း မကြာခဏ တွေ့မြင်လျက် ရှိကြပေသည်။ သို့ဖြစ်ပေရာ ထိုသို့သော အိမ်သူအိမ်သားများအတွက် ဤသည့်အကြောင်းသည် အံ့ဘွယ်မဟုတ်ပေ။ ၎င်းတို့၏ အံ့သြခြင်းသည်ပင် အံ့သြဘွယ်ရာဖြစ်နေပေသည်။ အမှန်မှာ ထိုသို့သော အိမ်သူအိမ်သားများသည် ဤသို့သော ကောင်းချီးသတင်းကို ကြားသိရသောအခါ အံ့သြကြမည့်အစား အလ္လာဟ်အရှင်မြတ်အား ချီးမွမ်းထောပနာပြုကြရန်သာ ထိုက်လှပေသည်။

(၂) ဤအာယတ်တော်တွင် တမန်တော် အီဗ်ရာဟီမ်၏ ကြင်ရာတော်အပါအဝင် အိမ်သူအိမ်သားများကို 'အဟ်လုလ်ဗိုက်တ်' ဟူ၍ သုံးနှုန်းထားတော်မူသည်။ ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ကြင်ရာတော်များသည်လည်း 'အဟ်လုလ်ဗိုက်တ်' တွင် အပါအဝင် ဖြစ်ကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။ ကြည့်-မာဂျိဒီ။

(၁) တမန်တော်အီဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်)သည် ကောင်းကင်တမန်များနှင့် ပတ်သက်၍ စိုးရိမ်မှု ကင်းရှံသာမက သားရတနာထွန်းကားမည့်အကြောင်း ကောင်းချီးသတင်းကြားသိရသောအခါ တမန်တော်လူတ်၏ အမျိုးသားများနှင့်ပတ်သက်၍ အလ္လာဟ်အရှင်မြတ်ထံတော်၌ အချေအတင် အငြင်းအခုံ ပြုလုပ်ဘိအလား လျှောက်ထား ပန်ကြားခဲ့လေသည်။

တမန်တော်အီဗ်ရာဟီမ်၏ လျှောက်ထားချက်ကို ကုရ်အာန်ကျမ်းမြတ် (၂၉း၁၁-၃၂)တွင် တွေ့ရှိရ ပေသည်။ ထိုလျှောက်ထားချက်၏ အလိုသဘောမှာ ကောင်းကင်တမန်များသည် တမန်တော်အီဗ်ရာဟီမ်ထံသို့ ရောက်ရှိလာကြပြီး ပထမသော် သားရတနာထွန်းကားမည့်အကြောင်း ကောင်းချီးသတင်းပေးခဲ့ကြ၏။ ထို့နောက် မိမိတို့သည် တမန်တော်လူတ်၏ ယုတ်မာလှသောအမျိုးသားများအား ပြစ်ဒဏ်ခတ်ကြမည့်အကြောင်း ပြောပြ ခဲ့ကြ၏။ ထိုအခါတမန်တော် အီဗ်ရာဟီမ်က 'ထိုအရပ်ဒေသတွင် တမန်တော်လူတ် ရှိနေပေသည်။ တမန်တော် လူတ် ရှိနေပါလျက် ထိုအရပ်ဒေသကို အသို့လျှင် ဖျက်ဆီးနိုင်ကြအံ့နည်းဟု ပြောဆိုရာ ကောင်းကင်တမန်များက ကျွန်ုပ်တို့သည် ထိုအရပ်ဒေသတွင် မည်သူမည်ဝါတို့ ရှိနေကြသည်ကိုသိသည်။ ကျွန်ုပ်တို့သည် တမန်တော်လူတ်နှင့် ၎င်း၏ အိမ်သူအိမ်သားများကို ကာကွယ်ထားကြမည်။ သို့ရာတွင် တမန်တော်လူတ်၏ဇနီးသည်ကိုမူ ➤➤

إِنَّ إِبْرٰهِيمَ لَحَلِيمٌ أَوَّٰهٌ مُّنِيبٌ ﴿٧٥﴾

၇၅။ ဧကန်စင်စစ် (နဗီတမန်တော်) အီဗ်ရာဟီမ်သည် အလွန်တရာ ထောက်ထား စာနာတတ်သူ၊ အလွန်တရာ တိုးလျှိုးတောင်းပန်သူ၊ အလွန်တရာ နောင်တရတတ်သူပင် ဖြစ်ပေသတည်း။ ၁

يٰإِبْرٰهِيمُ أَعْرِضْ عَنْ هٰذَا ۖ إِنَّهُ قَدْ جَآءَ أَمْرُ رَبِّكَ ۖ وَإِنَّهُمْ اٰتِيهِمْ عَذَابٌ غَيْرُ مَرْدُودٍ ﴿٧٦﴾

၇၆။ အို-အီဗ်ရာဟီမ်၊ အသင်သည် ဤသည်မှ ရှောင်ဖယ်၍နေပါလေ၊ ဧကန်မလွဲအသင့်အားဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်၏ အမိန့်တော်သည် ရောက်ရှိခဲ့လေပြီ။ ထိုမှတစ်ပါး ၎င်းတို့ထံ ပြန်လည် ရုပ်သိမ်းခြင်းမရှိသော ပြစ်ဒဏ်ကျရောက်တော့မည်မှာ ဧကန်မလွဲတည်း။ ၂

---

➤➤ ကာကွယ်ကြမည်မဟုတ်ပါ။ ယင်းဇနီးသည်သည် ပြစ်ဒဏ်ခတ်ခြင်း ခံကြရမည့်သူများတွင် အပါအဝင် ဖြစ်နေသည်' ဟု ဖြေကြားကြလေသည်။

ဤအကြောင်းနှင့်စပ်လျဉ်း၍ တဖ်စီရ်ကျမ်းများတွင် အသေးစိပ်ဖွင့်ဆိုချက်များကို တွေ့ရှိရပေသည်။ ထိုသည့်အဖွင့်များသည် အဘယ်ရွေ့အဘယ်မျှ မှန်ကန်သည်ကိုမူ အလ္လာဟ်အရှင်မြတ်ပင် သိတော်မူလေသည်။ ဤအာယတ်တော်တွင် တမန်တော်အီဗ်ရာဟီမ်၏ လျှောက်ထားခြင်းကို ပိုမိုလေးနက်စေသည့်သဘောဖြင့် 'ထိုတမန်တော်အီဗ်ရာဟီမ်သည် ငါအရှင်မြတ်နှင့် အငြင်းအခုံပြုလုပ်သည်' ဟူ၍ သုံးနှုန်းထားတော်မူသည်။ ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် တမန်တော်အီဗ်ရာဟီမ်သည် မိမိ၏မူလသဘာဝအလျောက် သူတစ်ပါးတို့အား သနားကြင်နာခြင်း၊ ထောက်ထားညှာတာခြင်း၊ စိတ်နေသဘောထား နူးညံ့သိမ်မွေ့ခြင်းများကြောင့် တမန်တော်လူတွ်၏ အမျိုးသားတို့အား သနားကြင်နာ၍ အလ္လာဟ်အရှင်မြတ်၏ အထံတော်၌ ၎င်းတို့နှင့် ပတ်သက်၍ လေးနက်စွာ လျှောက်ထားအသနားခံလိုခဲ့ကြောင်း ကောင်းစွာသိရှိရပေသည်။ ထိုအခါ အလ္လာဟ် အရှင်မြတ်က တမန်တော်အီဗ်ရာဟီမ်အား ရှေ့လာလတ္တံ့သော အာယတ်တော်(၁၁း၇၆)တွင် လာရှိသည့်အတိုင်း ဖြေကြားတော်မူခဲ့လေသည်။

(၁) တမန်တော်အီဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်)သည် သူတပါးအား အလွန်တရာမျှ ထောက်ထားတတ်၏။ စိတ်နှလုံး အလွန်တရာမျှ နူးညံ့သိမ်မွေ့၏။ အရေးကိစ္စကြုံတိုင်း အလ္လာဟ်အရှင်မြတ်ဘက်သို့ လှည့်တတ်၏။ နောင်တရတတ်၏။

(၂) တမန်တော်အီဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)သည် တမန်တော်လူတွ်၏ အမျိုးသားများနှင့် ပတ်သက်၍ အလ္လာဟ်အရှင်မြတ်ထံတော်၌ လျှောက်ထားပန်ကြားသည့်အခါ ထိုအရှင်မြတ်က 'အို-အီဗ်ရာဟီမ်၊ အသင်သည် ဤသည့်ငြင်းခုံ လျှောက်ထားခြင်းမှ ရှောင်ကြည်၍နေလေ၊ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်၏ အမိန့်တော်သည် ရောက်ရှိလာခဲ့လေပြီ။ ၎င်းပြင် ၎င်းတို့ထံ (တစ်စုံတစ်ယောက်သောသူ၏ လျှောက်ထား ပန်ကြားမှုကြောင့်) ရုပ်သိမ်းခြင်းခံရမည်မဟုတ်သော ပြစ်ဒဏ်တော်သည် မုချဆိုက်ရောက်တော့မည်' ဟု ဖြေကြားတော်မူလိုက်လေသည်။ 

وَلَمَّا جَآءَتۡ رُسُلُنَا لُوطٗا سِيٓءَ بِهِمۡ وَضَاقَ بِهِمۡ ذَرۡعٗا وَقَالَ هَٰذَا يَوۡمٌ عَصِيبٞ ٧٧

၇၇။ ထို့နောက်ငါအရှင်မြတ်၏ စေတမန်တော်များသည် (နဗီတမန်တော်)လူတ်၏ထံသို့ ရောက်ရှိလာခဲ့ကြသောအခါ ထို(နဗီတမန်တော်)လူတ်သည် ၎င်းတို့အတွက် ရတက်မအေး ဖြစ်ခဲ့ရသည့်ပြင် ၎င်းတို့အတွက် အလွန် စိတ်ကျဉ်းကျပ်ခြင်းလည်း ဖြစ်ခဲ့လေသည်။ ထိုမှတစ်ပါး 'ဤနေ့သည် အလွန်ခက်ခဲသောနေ့ပင် ဖြစ်ပေသည်တကား၊'ဟု ထို(နဗီတမန်တော်)လူတ်သည် ပြောဆို မြည်တမ်းခဲ့လေသတည်း။ ၁

➤➤ ဤသည့်အာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်၏ ချစ်ကြည်မြတ်နိုးမှုကို အဘယ်မျှပင်ခံရသော ပုဂ္ဂိုလ်တစ်ဦးပင် ဖြစ်လင့်ကစား ၎င်း၏လျှောက်ထားပန်ကြားချက်သည် ထိုအရှင်မြတ်၏ ထံတော်၌ မုချလက်ခံရကောင်းစေဟူ၍ကား မရှိကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။ လူသားတို့၏ အသိကား တိုတောင်းလှ၏။ ထိုအရှင်မြတ်၏ အသိတော်ကား အစအဆုံးပင်မရှိပေ။ သို့ဖြစ်ပေရာ လူသားတို့သည် ထိုအရှင်မြတ်၏ အသိတော်ကို အသို့လျှင် ခြုံငုံမိနိုင်အံ့နည်း။ မာဂျိဒီ

① တမန်တော် အီဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)ထံသို့ ဝင်ရောက်ခဲ့သော အဆိုပါ ကောင်းကင်တမန်များသည် တမန်တော် လူတ်(အလိုင်ဟစ္စလာမ်)၏ အမျိုးသားများကို ကွပ်မျက်ဖျက်ဆီးရန်အတွက် အလွန်လှပသော လူငယ်များ၏ ရုပ်ဆင်းသဏ္ဍာန်ဖြင့် တမန်တော်လူတ်ထံသို့ ရောက်ရှိလာခဲ့ကြလေသည်။ ပထမသော် တမန်တော်လူတ်သည်လည်း အဆိုပါ ကောင်းကင်တမန်များအား ကောင်းကင်တမန်များဟူ၍ မသိခဲ့ချေ။ သာမန်လူသား ဧည့်သည်များဟူ၍ပင် ထင်မှတ်ခဲ့ပေသည်။

ယင်းသို့ ဧည့်သည်များ ရောက်ရှိလာသည့်အခါ တမန်တော်လူတ်သည် ၎င်းတို့နှင့် ပတ်သက်၍ အကြီးအကျယ် စိတ်ဒုက္ခရောက်မိ၏။ ပူဆွေးမိ၏။ အဘယ်ကြောင့်ဆိုသော် ရောက်ရှိလာသော ဧည့်သည်များမှာ အလွန်လှပသောလူငယ်များ ဖြစ်နေကြ၏။ Sodom နယ်သားများမှာလည်း အလွန်ညစ်ညမ်း စက်ဆုပ်ရွံရှာဖွယ်ကောင်းလှသည့် အကျင့်ဆိုး၊ အကျင့်ယုတ်တွင် နစ်မွန်းလျက်ရှိနေကြ၏။ Sodom နယ်သားများသည် ဤသို့ လှပတင့်တယ်သည့် လူငယ်များကို တွေ့မြင်သွားကြပါက မိမိတို့၏ ယုတ်မာညစ်ညမ်းလှသည့် အကျင့်ဆိုးအတိုင်း ပြုမူကျင့်ကြံကြရန် ကြိုးစားကြမည်ပင်ဖြစ်၏။

ထိုအချိန်တွင် တမန်တော်လူတ်အဖို့ ရောက်ရှိလာသော ဧည့်သည်များကို လက်လွှတ်ရန်မှာလည်း မလွယ်လှပေ။ Sodom နယ်သားများ၏ ဘေးမှလွတ်မြောက်ရန် အရေးမှာလည်း မလွယ်လှပေ။ တမန်တော်လူတ်သည် Sodom အမျိုးသားများကြောင့် မိမိ၏ဧည့်သည်တော်များ အရှက်တကွဲ အကျိုးနည်းဖြစ်ကြရတော့မည်အရေးကို တွေး၍ အကြီးအကျယ် ရင်လေးမိ၏။ စိတ်ဒုက္ခဖြစ်မိ၏။ ဤနေ့ကား အလွန်ခက်ခဲသောနေ့ဖြစ်သည်ဟူ၍လည်း ညည်းညူမြည်တမ်းမိ၏။

وَجَآءَهُۥ قَوۡمُهُۥ يُهۡرَعُونَ إِلَيۡهِ
وَمِن قَبۡلُ كَانُواْ يَعۡمَلُونَ
ٱلسَّيِّـَٔاتِۚ قَالَ يَٰقَوۡمِ هَٰٓؤُلَآءِ
بَنَاتِي هُنَّ أَطۡهَرُ لَكُمۡۖ فَٱتَّقُواْ
ٱللَّهَ وَلَا تُخۡزُونِ فِي ضَيۡفِيٓۖ
أَلَيۡسَ مِنكُمۡ رَجُلٞ رَّشِيدٞ ٧٨

၇၈။ ထို့နောက် ယင်း(နဗီတမန်တော်) 'လူတ်ွ' ၏ အမျိုးသားများသည် ယင်း၏ထံသို့ *အပြေးအလွှား လာခဲ့ကြလေသည်။* [၁] စင်စစ်သော်ကား ၎င်းတို့သည် *ယခင်မှုလကပင် မကောင်းမှု ဒုစရိုက်များကို ကျင့်မူ ပွားများလျက်ရှိခဲ့ကြကုန်၏။* [၂] (ထိုအခါ) ယင်း (နဗီတမန်တော်) 'လူတ်ွ' က 'အို-ငါ၏အမျိုးသားတို့၊ ဤသည် ငါ၏သမီးများပင်၊ (အသင်တို့သည် ၎င်းတို့နှင့် ထိမ်းမြားကြလေကုန်) ၎င်းတို့သည် အသင်တို့ အဖို့ *ပိုမို၍ပင် သန့်စင်ကြပေသည်။* [၃] သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ ကြလေကုန်၊ ၎င်းပြင် အသင်တို့သည် ငါ့အား ငါ၏ ဧည့်သည်တော်များ(ရှေ့)တွင် အရှက်တကွဲ အကျိုးနည်း မပြုကြကုန်လင့်၊ အသင်တို့တွင် ရိုးသားဖြောင့်မတ်သောသူ တစ်ယောက်တလေမျှပင် မရှိလေသလောဟု ပြောဆိုခဲ့လေသတည်း။ [၄]

---

(၁) တမန်တော်လူတ်ွထံသို့ ရုပ်ရည်အလွန်လှပသော လူငယ်ဧည့်သည်များ ရောက်ရှိနေသည့် အကြောင်းကို သိသာ နယ်သားများ ကြားသိကြသောအခါ ၎င်းတို့၏ ယုတ်မာသော အကျင့်ဆိုးအတိုင်း တမန်တော်လူတ်ွထံသို့ ပြေးလွှားရောက်ရှိလာကြပြီး တမန်တော်လူတ်ွထံ မိမိ၏ဧည့်သည်များကို ၎င်းတို့အား အပ်နှံရန် ယုတ်မာစွာ တောင်းဆိုကြလေတော့သည်။ ၎င်းတို့က တမန်တော်လူတ်ွအား 'ကျွန်ုပ်တို့သည် အသင့်အား မိမိထံတွင် သူစိမ်းတရံဆံ ဧည့်သည်များကို မတည်းခိုစေရန် တားမြစ်ခဲ့ကြသည် မဟုတ်ပါသလော' ဟူ၍ပင် အကြောင်းပြခဲ့ကြသေး၏။ ဤသို့ ပြောဆိုခဲ့ကြသည့်အကြောင်း ကုရ်အာန် (၁၅း၇၀)တွင်လည်း ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။

**မှတ်ချက်။**

ဤအာယတ်တော်တွင်ပါရှိသော 'ကောင်မ်' ဟူသောပုဒ်၏အနက်မှာ အွန်မွတ်-အုပ်စု၏ အနက်၌သာ ဖြစ်သည်။ ကြည့်-မာဂျိဒီ၊ အ-၂။ စ-၃၄၂။ အအ-၁၀၆။ ထာနဝီ အ-၄။ စ-၂၅။

အလ္လာဟ်အရှင်မြတ်သည် များသောအားဖြင့် တရားဓမ္မဟောညွှန်ပြစေတော်မူရန် အလို့ငှာ သက်ဆိုင်ရာ အမျိုးသားများထံသို့ ၎င်းတို့အနက်မှပင် ၎င်းတို့နှင့် သားချင်းတော်စပ်သော ပုဂ္ဂိုလ်မြတ်တို့အား တမန်တော်အဖြစ် စေလွှတ်တော်မူလေ့ရှိခဲ့၏။ သို့ရာတွင် Sodom နယ်သားများထံသို့ စေလွှတ်တော်မူခြင်း ခံခဲ့ရသော တမန်တော်လူတ်ွ (အလိုင်ဟိဟစ္စလာမ်)မှာကား ယင်းသို့မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် တမန်တော်လူတ်ွ (အလိုင်ဟစ္စလာမ်)သည် Sodom နယ်သားလည်း မဟုတ်ခဲ့ပေ။ ➢➢

➤➤ Sodom နယ်သားများနှင့် သားချင်းလည်း မတော်စပ်ခဲ့ပေ။ အလ္လာဟ်အရှင်မြတ်သည် တမန်တော်ဟူဒ်(အလိုင်ဟစ္စလာမ်)အား စေလွှတ်တော်မူခဲ့သည့်အကြောင်းတွင် ( وَإِلَىٰ عَادٍ أَخَاهُمْ هُودًا ) ဟူ၍ လည်းကောင်း၊ တမန်တော်ဆွာလစ်ဟ် (အလိုင်ဟစ္စလာမ်)အား ဆမူဒ်အမျိုးသားများထံသို့ စေလွှတ်တော်မူခဲ့သည့် အကြောင်းတွင် ( وَإِلَىٰ ثَمُودَ أَخَاهُمْ صَٰلِحًا ) ဟူ၍လည်းကောင်း၊ မိန့်ဆိုတော်မူ၍ သက်ဆိုင်ရာ တမန်တော်နှင့် သက်ဆိုင်ရာ အမျိုးသားတို့သည် အချင်းချင်းသားချင်း တော်စပ်ကြောင်းကို ထင်ရှားပေါ်လွင်စေသော အသုံးအနှုန်းကို သုံးထားတော်မူသည်။ တမန်တော်လူတ္တ(အလိုင်ဟစ္စလာမ်)အား သားချင်းမတော်စပ်သော အမျိုးသားတို့ထံသို့ စေလွှတ်တော် မူသည့် အတွက်ကြောင့် တမန်တော်ဟူဒ် (အလိုင်ဟစ္စလာမ်) နှင့် တမန်တော် ဆွာလစ်ဟ် (အလိုင်ဟစ္စလာမ်)တို့အား စေလွှတ်တော်မူရာတွင် သုံးနှုန်းထားတော်မူသော အသုံးအနှုန်းမျိုးကို သုံးတော်မမူဘဲ ( وَلُوطًا إِذْ قَالَ لِقَوْمِهِۦٓ ) ဟူ၍ အသုံးအနှုန်းကို ပြောင်းလဲသုံးနှုန်းထားတော်မူပေသည်။ အရဗီစာပေ တတ်ကျွမ်းသော ပုဂ္ဂိုလ်များသည် ဤသည့်အချက်ကို ကောင်းစွာ ရိပ်စားမိနိုင်ကြပေသည်။

(၂) Sodom နယ်သားများထံသို့ တမန်တော် လူတ္တတရားဓမ္မ ဟောကြားရန် ကြွရောက်လာခဲ့သည့်အချိန်တွင် သိသာ နယ်သားများသည် ကမ္ဘာတွင် ရှိရှိသမျှသော မကောင်းမှု၊ ဆိုးသွမ်းမှု၊ ယုတ်မာမှု၊ မကောင်းညစ်ကျူ အစုစုတွင် နစ်မွန်းလျက် ရှိနေခဲ့ကြပေသည်။ ကမ္ဘာရှိ မောက်မာဆိုးသွမ်းမိုက်မဲယုတ်မာသော လူမျိုးများတွင် ရှိလေ့ရှိထသော အကျင့်ဆိုးများအပြင် Sodom နယ်သားများတွင် အလွန်စက်ဆုတ်ရွံ့ရှာဖွယ် ကောင်းလှသည့် အကျင့်ယုတ်တစ်ခုလည်းရှိသေး၏။ ထိုအကျင့်ယုတ်ကား အခြားမဟုတ်၊ သဘာဝကို ဆန့်ကျင်၍ ယောကျ်ား အချင်းချင်း သံဝါသ စပ်ရှက်ခြင်းပင် ဖြစ်သည်။ ထိုခေတ် ထိုအခါအထိ ထို အကျင့်ယုတ်သည် Sodom နယ်သားများမှ တစ်ပါး ကမ္ဘာရှိ အခြားမည်သည့် လူမျိုးတွင်မျှ မရှိခဲ့သေးပေ။ ထို့ပြင်တဝ Sodom နယ်သားများသည် ယင်းသည် ယုတ်မာမှုကို လျှို့ဝှက်စွာ ကျူးလွန်နေကြသည်မဟုတ်၊ ရှက်ဖွယ်ကိစ္စဟူ၍လည်း မထင်ခဲ့ကြသည်သာမက ဂုဏ်ယူ၍ အထင်အရှား ကျူးလွန်၍ နေခဲ့ကြပေသည်။

ကြည့်-ကုရ်အာန် (၇း၈၀-၈၄)။

(၃) တမန်တော်လူတ္တက မိမိ၏ဧည့်သည်များကို တောင်းဆိုကြသော Sodom နယ်သားများအား အမျိုးမျိုး မေတ္တာရပ်ခံ၍၊ မရသည့်အဆုံး၌ အသင်တို့သည် ဤဧည့်သည်များကို ဒုက္ခမပေး ကြကုန်လင့်၊ အကယ်၍ အသင်တို့အလိုရှိကြလျှင် 'ကျွန်ုပ်၏သမီးများသည် အသင့်ရှိကြသည်။ ၎င်းတို့သည် အသင်တို့အဖို့ ပို၍ပင် သန့်စင်ကြပေသည်' ဟူ၍ပင် ပြောဆိုခဲ့လေတော့သည်။

(၄) တမန်တော်လူတ္တ(အလိုင်ဟစ္စလာမ်)သည် မိမိထံတွင် ရောက်ရှိနေကြသော ဧည့်သည်တော်များနှင့် ဂုဏ်သိက္ခာကို ကာကွယ်ရန်အတွက် တတ်စွမ်းနိုင်သမျှ အမျိုးမျိုးကြိုးစားခဲ့၏။ Sodom နယ်သားတို့အား မည်သို့မျှ ပြောဆို၍ မရသည့်အဆုံး၌ 'အို-ငါ၏အမျိုးသားများ၊ ဤကျွန်ုပ်၏ သမီးများသည် အသင့်ရှိကြ ပေသည်။ (အသင်တို့ ထိမ်းမြားနိုင်ကြပေသည်။) ၎င်းတို့သည် အသင်တို့အဖို့ ပိုမို၍ပင် သန့်စင်ကြပေသည်။ သို့ဖြစ်ရာ အသင်တို့သည် (သန့်စင်သော တရားတော်နှင့်ညီသော အစဉ်အလာကို စွန့်၍ အလွန်ညစ်ညမ်းသော လမ်းစဉ်ကို တီထွင်ရာ၌) အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြကုန်၊ အသင်တို့သည် ကျွန်ုပ်အား ကျွန်ုပ်၏ ဧည့်သည်တော်များ ရှေ့မှောက်တွင် အရှက်တကွဲ အကျိုးနည်း မပြုကြပါနှင့်၊ (ယုတ်စွအဆုံး ကျွန်ုပ်ကိုတော့ ထောက်ထားကြပါကုန်၊ ဤဂုဏ်သရေရှိ ဧည့်သည်တော်ရှေ့မှောက်တွင် ကျွန်ုပ် အရှက်တကွဲ အကျိုးနည်း မဖြစ်ပါရစေနှင့် ဧည့်သည်၏ အရှက်သည် အိမ်ရှင်၏ အရှက်ပင်ဖြစ်ပါသည်)။ အသင်တို့တွင် ရိုးသားဖြောင့်မတ်သူ တစ်ဦး တစ်ယောက်မျှပင် မရှိလေသလော' ဟု ဆုံးမပြောဆိုခဲ့လေသည်။

قَالُوْا لَقَدْ عَلِمْتَ مَا لَنَا فِيْ بَنَاتِكَ مِنْ حَقٍّ ۚ وَاِنَّكَ لَتَعْلَمُ مَا نُرِيْدُ ﴿٧٩﴾

၇၉။ ထိုအခါ ယင်းအမျိုးသားတို့က (အို-လူတ်) ကျွန်ုပ်တို့၌ အသင်၏သမီးများနှင့်ပတ်သက်၍ အလို တစ်စုံတစ်ရာမျှ မရှိကြောင်း အသင်သည် ကေန်အမှန် သိရှိပြီး ဖြစ်ပေသည်။ ထို့ပြင် ဧကန်စင်စစ် အသင် သည် ကျွန်ုပ်တို့၏ရည်စူးချက်ကိုလည်း (ကောင်းစွာ) သိရှိပြီးဖြစ်သည်ဟု ပြောဆိုခဲ့ကြလေသည်။

قَالَ لَوْ اَنَّ لِيْ بِكُمْ قُوَّةً اَوْ اٰوِيْٓ اِلٰى رُكْنٍ شَدِيْدٍ ﴿٨٠﴾

၈၀။ ထို(နဗီတမန်တော်)လူတ်က (ဤသို့)ပြောဆို ညည်းညူခဲ့လေသည်။ ဩော်-အကယ်၍ ငါ့မှာ အသင်တို့အား ခုခံနိုင်ရန် စွမ်းအားရှိခဲ့မူ၊ သို့တည်း မဟုတ် ငါသည် ခိုင်ခံ့သော အမှီသဟဲ တစ်ခုကို အမှီသဟဲ ပြုနိုင်ပါမူ ကောင်းလေစွတကား။ [၁]

قَالُوْا يٰلُوْطُ اِنَّا رُسُلُ رَبِّكَ لَنْ يَّصِلُوْٓا اِلَيْكَ فَاَسْرِ بِاَهْلِكَ بِقِطْعٍ مِّنَ الَّيْلِ وَلَا يَلْتَفِتْ مِنْكُمْ اَحَدٌ اِلَّا امْرَاَتَكَ ۭ اِنَّهٗ مُصِيْبُهَا مَآ اَصَابَهُمْ ۭ اِنَّ مَوْعِدَهُمُ الصُّبْحُ ۭ اَلَيْسَ الصُّبْحُ

၈၁။ ထိုရောအခါ ယင်း(စေတမန်)တို့က ဤသို့ ပြောဆိုခဲ့ကြကုန်၏။ အို - (နဗီတမန်တော်)လူတ် (အသင်သည် မည်သို့မျှမစိုးရိမ်ပါလေနှင့်) ဧကန်မလွဲ ကျွန်ုပ်တို့သည် အသင်၏အရှင်မြတ်က စေလွှတ်တော် မူသောစေတမန်များပင် ဖြစ်ကြပေရာ ၎င်းတို့သည် *အသင်၏အပေါ်သို့ အလျှင်း ချဉ်းကပ်နိုင်ကြမည် မဟုတ်ပေ။* [၂] သို့ဖြစ်ပေရာ အသင်သည် မိမိအိမ်သူ အိမ်သားတို့နှင့်တကွ ညဉ့်၏အစိတ်အပိုင်းတစ်ခုခုတွင် ထွက်ခွာသွားပါလေ။ သို့ရာတွင် အသင်တို့အနက် မည်သူ တစ်ဦးတစ်ယောက်မျှ နောက်သို့လှည့်၍ မကြည့်ရပေ။

(၁) တမန်တော်လူတ် (အလိုင်ဟစ္စလာမ်)သည် တရားဓမ္မဟောကြားရန်အတွက် ဆွေရပ်မျိုးရပ်မဟုတ် အရပ် တစ်ပါးသို့ ဧည့်သည်အဖြစ် ရောက်ရှိနေခဲ့၏။ ထိုအရပ်တွင် တမန်တော်လူတ်၏ ဆွေမျိုးသားချင်းဟူ၍ တစ်ဦးတစ်ယောက်မျှမရှိ၊ မှီခို အားထားရာမရှိ၊ အားငယ်ခဲ့၏။ မျက်နှာငယ်ခဲ့၏။ အရပ်တစ်ပါးတွင် အကြီး အကျယ် အကျဉ်းအကျပ်နှင့်တွေ့၍ စိတ်ဒုက္ခရောက်သောအခါ၌ လူသားများသည် မျက်မြင်အားထားရာ အကြောင်းတရားများကို အားထားကြ၏။ တမ်းတကြ၏။ ဤသည် လူ့သဘာဝပင်ဖြစ်၏။ တရားတော်နှင့် မဆန့်ကျင်ပေ။ ထို့အတွက် တမန်တော်လူတ်သည်လည်း ဤကဲ့သို့ အကျဉ်းအကျပ်နှင့်ကြုံ၍ ➤➤

بِقَرِيبٍ ﴿٨١﴾

သို့ရာတွင် အသင်၏ဇနီးမှုကား ဧကန်မုချ ၎င်းတို့၌ ဆိုက်ရောက်မည့်ပြစ်ဒဏ်သည် ယင်းဇနီး၌လည်း ဆိုက်ရောက်မည်ဖြစ်ချေသည်။ ဧကန်စင်စစ် ၎င်းတို့အား ချိန်းချက်ထားသော အချိန်သည် နံနက်မိုးသောက်ချိန်ပင် ဖြစ်ပေသည်။ နံနက်မိုးသောက်ချိန်ကား နီးကပ်လျက်ပင်ရှိသည် မဟုတ်ပါလော။ ၁

---

➤➤ စိတ်ဒုက္ခအကြီးအကျယ် ဖြစ်သည့်အခါ 'ဩော်-အကယ်၍သာ ကျွန်ုပ်၌ အသင်တို့အား ခုခံကာကွယ်တိုက်ဖျက်ရန် အားရှိလျှင် ကောင်းစွ၊ သို့မဟုတ် ကြီးမားတောင့်တင်းသော သားချင်းအုပ်စုများရှိလျှင် ကောင်းစွ' ဟု ညည်းညူတမ်းတမိခဲ့ခြင်း ဖြစ်လေသည်။

(၂) (Sodom) နယ်သား သူယုတ်တို့အား မည်သို့မျှ တောင်းပန်၍ မရသည့်အဆုံးတွင် တမန်တော်လူတ်သည် အရှက်တကွဲ အကျိုးနည်း ဖြစ်ရတော့မည့်အရေးကို တွေးမြင်ပြီး အကြီးအကျယ် စိတ်ဒုက္ခဖြစ်ရာလေသည်။ ထိုအချိန်တွင် ကောင်းကင်တမန်များက အို-လူတ်၊ အသင်စိတ်မပျက်လေနှင့်၊ ကျွန်ုပ်တို့သည် လူသား ဧည့်သည်များမဟုတ်၊ ဤသူယုတ်တို့အား ကွပ်မျက်ဖျက်ဆီးရန်အတွက် အသင့်အရှင်သခင်က စေလွှတ်တော်မူလိုက်သော ကောင်းကင်တမန်များ ဖြစ်ကြပါသည်။ ဤသူယုတ်တို့သည် ကျွန်ုပ်တို့အား စော်ကားရန်ဝေးစွ အသင့်အားလည်း မည်သို့မျှ အန္တရာယ်ပြုနိုင်မည် မဟုတ်ပါဟု ဖွင့်ဟထုတ်ဖော်ပြောဆိုကြလေသည်။

(၁) ကောင်းကင်တမန်များက တမန်တော်လူတ်အား Sodom နယ်သား ဤသူယုတ်မာများထံသို့ နံနက်မိုးသောက်ချိန်တွင် ပြစ်ဒဏ်တော် ဆိုက်ရောက်တော့မည်။ နံနက်မိုးသောက်ချိန်မှာလည်း ကပ်နေချေပြီ။ ထို့အတွက် အသင်သည် ညဉ့်တချိန်ချိန်တွင် မိမိ၏ အိမ်သူအိမ်သားများကို ခေါ်ဆောင်၍ အလျင်အမြန် မြို့ပြင်သို့ ထွက်သွားပါ။

သို့ထွက်သွားရာ၌ မည်သူတစ်ဦးတစ်ယောက်မျှ နောက်သို့ ပြန်လှည့်၍ မကြည့်ရ။ သို့ရာတွင် အသင်၏ဇနီးသည် အသင်တို့နှင့်အတူ လိုက်ပါမည်မဟုတ်၊ သို့မဟုတ်၊ လိုက်ပါခဲ့စဉ် နောက်သို့ လှည့်ကြည့်ပေမည် ဖြစ်ရာ Sodom နယ်သားများထံသို့ ဆိုက်ရောက်သောပြစ်ဒဏ်သည် အသင်၏ ဇနီးထံသို့လည်း ဆိုက်ရောက်မည်ဖြစ်သည်' ဟုသတိပေးစကား ပြောကြားကြလေသည်။

ထိုကောင်းကင်တမန်များ သတိပေးသည့်အတိုင်း တမန်တော်လူတ်သည် မိမိ၏ အိမ်သူအိမ်သားများကို ခေါ်ဆောင်၍ မြို့ပြင်သို့ ထွက်ခွာသွားခဲ့လေသည်။ သို့ရာတွင် တမန်တော်လူတ်၏ ဇနီးသည် ကောင်းကင်တမန်များ ပြောကြားသည့်အတိုင်းပင် တမန်တော်လူတ်နှင့်အတူ မြို့ပြင်သို့ မလိုက်ပါခဲ့ချေ။ ပြစ်ဒဏ်တော်ခတ်၍ ပယ်ရှင်းခြင်းခံရသူများတွင် အပါအဝင်ဖြစ်ခဲ့လေသည်။

အချို့ကျမ်းများတွင် လာရှိသည်မှာ တမန်တော်လူတ်အိမ်၌ ဧည့်သည်များ ရောက်ရှိနေကြောင်းကို Sodom နယ်သားများအား သွားရောက် သတင်းပေးသူမှာ အခြားမဟုတ်၊ တမန်တော်လူတ်၏ ဇနီးပင်ဖြစ်သည်။ (Sodom) နယ်သားများကို ပြစ်ဒဏ်ခတ်တော်မမူမီ အလ္လာဟ်အရှင်မြတ်သည် ထိုနယ်ရှိ မွတ်စ်လင်မ်တို့အား ပြင်ပသို့ ထုတ်ထားတော် မူခဲ့လေသည်။ ဤအကြောင်း ကုရ်အာန်ကျမ်းမြတ် (၅၁:၃၅-၃၇) တွင် ပါရှိလေသည်။

فَلَمَّا جَآءَ أَمْرُنَا جَعَلْنَا عَالِيَهَا سَافِلَهَا وَأَمْطَرْنَا عَلَيْهَا حِجَارَةً مِّن سِجِّيلٍ مَّنضُودٍ ﴿٨٢﴾

၈၂။ ထို့နောက်ငါအရှင်မြတ်၏အမိန့်တော် ရောက်ရှိလာသောအခါ ငါအရှင်မြတ်သည် ထိုမြို့ရွာကို အထက်အောက်(ပြောင်းပြန်) လှန်ပစ်တော်မူခဲ့လေသည်။ ထို့ပြင်ငါအရှင်မြတ်သည် မြို့ရွာပေါ်သို့ ရွံ့၊ ကျောက်ခဲမိုးကို ရွာသွန်းချစေတော်မူခဲ့လေသည်။ [၁]

مُّسَوَّمَةً عِندَ رَبِّكَ ۖ وَمَا هِيَ مِنَ الظَّالِمِينَ بِبَعِيدٍ ﴿٨٣﴾

၈၃။ (ထိုကျောက်ခဲများသည်) အသင့်အားဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ အထူးအမှတ်တံဆိပ် ခတ်နှိပ်ပြီးဖြစ်သော (ကျောက်ခဲများဖြစ်သည်)။ စင်စစ် ထိုမြို့ရွာသည် မတရားပြုမူကြကုန်သော (မက္ကာဟ်မြို့သား)တို့နှင့်ကား ဝေးကွာသည် မဟုတ်ပေ။ [၂]

---

(၁) (Sodom) နယ်သားများကို ကွပ်မျက်ဖယ်ရှင်းရန်အချိန် ကျရောက်လာသည့်အခါ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ ကောင်းကင်တမန် ဂျစ်ဗ်ရအီလ်သည် ထိုမြို့ရွာများကို ထက်အောက် ပြောင်းပြန်လှန်၍ အထက်ကောင်းကင်မှ ၎င်းတို့အပေါ်သို့ အမှတ်အသား တံဆိပ်ခတ်နှိပ်ထားသည့် ရွံ့ကျောက်ခဲများကို အဆက်မပြတ် ရွာသွန်းချပြီး လုံးဝချေမှုန်း ဖျက်ဆီးပစ်လိုက်လေသည်။

(၂) 'ထိုအရာသည် ကျူးကျော်စော်ကားသူများနှင့် ဝေးကွာသည်မဟုတ်ပေ' ဤအာယတ်တော်တွင် 'ထိုအရာ' ဟူသော နာမ်စားသည် Sodom နယ်သားများထံသို့ သက်ရောက်ခဲ့သော ကျောက်ခဲ၊ တနည်း ပြစ်ဒဏ်တော်ကို ရည်ညွှန်းသည်ဟူ၍လည်း ဆိုနိုင်၏။ ပြစ်ဒဏ်တော် ခတ်ခြင်းခံရသည့် Sodom နယ်သားများ နေထိုင်ရာ နယ်မြေ မြို့ရွာအရပ်ဒေသကို ရည်ညွှန်းသည်ဟုလည်း ဆိုနိုင်၏။

ထို့အတူ ဤအာယတ်တော်တွင်ပါရှိသည့် 'ကျူးကျော်သူများ' ဟူသည် မက္ကာမြို့သား မုရှ်ရစ်က်များကို ရည်ညွှန်းသည်ဟုလည်း ဆိုနိုင်၏။ ခေတ်တိုင်း နယ်တိုင်းရှိ ကျူးကျော်သူအားလုံးကို ရည်ညွှန်းသည်ဟူ၍လည်း ဆိုနိုင်၏။ ပြစ်ဒဏ်တော် ဆိုက်ရောက်ခဲ့သော ထိုအရပ်ဒေသသည် မက္ကာမြို့သား မုရှ်ရစ်က်များနှင့် ဝေးသည် မဟုတ်ပေ။ အလွန် နီးကပ်လျက်ရှိပေသည်။ ထို့ပြင့်တဝ မက္ကာမြို့သားများသည် ဆီးရီးယားနိုင်ငံသို့ ကုန်သန်းရောင်းဝယ်ရန်အတွက် ခရီးသွားလာလေ့ ရှိခဲ့ကြသည်။

Sodom နယ်မြေများသည် ထိုခရီးလမ်းကြောင်းပေါ်၌ပင် တည်ရှိသည်။ ဤအကြောင်းကုရ်အာန် (၁၅း၇၅-၇၇၊ ၃၇း၁၃၇-၁၃၈)တွင်လည်း မိန့်ဆိုထားတော်မူသည်။ ကြည့်-အယ်မနာရ်၊ အ-၁၂၊ စ-၁၃၈၊ သို့ဖြစ်ပေရာ မက္ကာမြို့သားများသည် မိမိတို့ခရီးသွားလာတိုင်း ဖြတ်သန်းသွားလာတွေ့ကြုံနေကြသည့် Sodom နယ်မြေရှိ အမျိုးသားများ ပျက်စီးသွားကြရသည့်အဖြစ်ကို ကြည့်ရှုဆင်ခြင်၍ သတိသံဝေဂ ရယူသင့်ကြပေသည်။

ထို့အတူ ခေတ်တိုင်းနယ်တိုင်းရှိ ကျူးကျော်စော်ကားသူများသည်လည်း Sodom နယ်သားတို့၏ ဖြစ်ရပ်ကို စဉ်းစားဆင်ခြင်၍ သတိဝံဝေဂရယူသင့်ကြပေသည်။

وَإِلَىٰ مَدْيَنَ أَخَاهُمْ شُعَيْبًا ۚ قَالَ يَٰقَوْمِ ٱعْبُدُوا۟ ٱللَّهَ مَا لَكُم مِّنْ إِلَٰهٍ غَيْرُهُۥ ۖ وَلَا تَنقُصُوا۟ ٱلْمِكْيَالَ وَٱلْمِيزَانَ ۚ إِنِّىٓ أَرَىٰكُم بِخَيْرٍ وَإِنِّىٓ أَخَافُ عَلَيْكُمْ عَذَابَ يَوْمٍ مُّحِيطٍ ﴿٨٤﴾

၈၄။ ထိုနည်းတူစွာ (ငါအရှင်မြတ်သည်) မဒ်ယန် *မြို့သားတို့ထံ ၎င်းတို့၏ ညီအစ်ကိုသားချင်းဖြစ်သော (နဗီတမန်တော်)'ရှုအိုက်ဗ်အား'* [၁] (စေလွှတ်တော်မူခဲ့လေသည်။) (ထိုအခါ) ယင်း(နဗီတမန်တော်) ရှုအိုက်ဗ်သည် (၎င်းတို့အား ဤသို့)ပြောဆိုဟောကြားခဲ့လေသည်။ အို-ငါ၏အမျိုးသားတို့၊ အသင်တို့သည် *အလ္လာဟ်အရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ဆည်းကပ်ကြလေကုန်။* [၂] အသင်တို့၌ ထိုအရှင်မြတ်မှတစ်ပါး ဆည်းကပ်ကိုးကွယ်ရာ အရှင်ဟူ၍ အလျှင်းမရှိချေ။ ထို့ပြင် အသင်တို့သည် (တောင်းတင်းအစ ရှိသော) ပမာဏ အချင်အတွယ်ကိုလည်းကောင်း၊ *အလေးချိန်ကိုလည်းကောင်း၊မလျှော့ကြကုန်လင့်။* [၃] ဧကန်စင်စစ် ငါသည် အသင်တို့ ကောင်းစားလျက်ရှိနေကြသည်ကို မြင်နေပေသည်။ သို့ရာတွင် ဧကန်မလွဲ ငါသည်အသင်တို့အပေါ်ဝယ် ဝန်းခြံမည့်နေ့၏ ပြစ်ဒဏ်ကို စိုးရိမ်မိပေသတည်း။

---

(၁) **မှတ်ချက်။** **(Midian)** မဒ်ယန်မျိုးနွယ်ဝင်များနှင့် တမန်တော်ရှုအိုက်ဗ် (အလိုင်ဟစ္စလာမ်)၏ အကြောင်းကုရ်အာန် (၇း၈၅-၉၃)တွင် ပါရှိခဲ့လေပြီ။ မဒ်ယန်မျိုးနွယ်ဝင်များ၏ အကြောင်းနှင့် တမန်တော်ရှုအိုက်ဗ်၏ အတ္ထုပ္ပတ္တိကိုလည်း ကုရ်အာန် (၇း၈၅)၏ အဖွင့်တွင် အကျယ်တဝင့်ရေးသားခဲ့ပေပြီ။ ပြန်လည်ရှုပါကုန်။

(၂) ပွင့်လေသမျှသော တမန်တော်တိုင်း၏ အဓိကတရားဓမ္မမှာ 'တောင်ဟီဒ်' ပင် ဖြစ်သည်။ တမန်တော်ရှုအိုက်ဗ် (အလိုင်ဟစ္စလာမ်)သည်လည်း မိမိ၏အမျိုးသားများအား ဤသည့်'တောင်ဟီဒ်' တရားကိုပင် အဓိကထား၍ စတင်ဟောကြားတော်မူခဲ့လေသည်။

(၃) မဒ်ယန်မျိုးနွယ်ဝင်များသည် ကူးသန်းရောင်းဝယ်မှုတွင် ကျော်ကြားခဲ့ကြပေသည်။ သို့ရာတွင် ၎င်းတို့သည် ရောင်းဝယ်မှုတွင် သစ္စာမရှိခဲ့ကြပေ။ ချင်ရာတွင်လည်းကောင်း၊ ချိန်ရာတွင်လည်းကောင်း၊ တိုင်းထွာရာတွင်လည်းကောင်း၊ အပေးအယူတွင်လည်းကောင်း၊ မရိုးမသားခဲ့ကြပေ။ ပေးရာတွင်လျှော့၍ ပေးလေ့ရှိခဲ့ကြ၏။ ယူရာ၌ ပို၍ယူလေ့ရှိခဲ့ကြ၏။ အမြတ်ကြီးစားခဲ့ကြ၏။ နည်းပရိယာယ်အမျိုးမျိုးဖြင့် စီးပွားရေးတွင် သောင်းကျန်းလေ့ရှိခဲ့ကြသည်။ အစ္စလာမ်သည် ယုံကြည်မှုဆိုင်ရာ မှားယွင်းမှုများကို ပြင်ဆင်ပေးသကဲ့သို့ ရောင်းဝယ်ဖောက်ကားမှု၊ ပေါင်းသင်းဆက်ဆံမှုများတွင် ပျက်စီးမှားယွင်းနေသည့် အကျင့်ဆိုးအကျင့်ယုတ်များကိုလည်း ပြုပြင်ပေးသည်။ အဘယ်ကြောင့်ဆိုသော် ရောင်းဝယ်ဖောက်ကားမှုတွင် သစ္စာမဲ့မှု၊ (ဝါ) စီးပွားရေးသောင်းကျန်းမှုသည် တိုင်းပြည်နှင့်တကွ လူမျိုးကိုပင်ပျက်စီးသွားစေနိုင်သည်။ >>

وَيٰقَوْمِ اَوْفُوا الْمِكْيَالَ وَالْمِيْزَانَ بِالْقِسْطِ وَلَا تَبْخَسُوا النَّاسَ اَشْيَآءَهُمْ وَلَا تَعْثَوْا فِي الْاَرْضِ مُفْسِدِيْنَ ﴿٨٥﴾

၈၅။ ထိုမှတစ်ပါး အို–ငါ၏အမျိုးသားတို့၊ အသင်တို့သည်(တောင်း၊တင်းစသော) ပမာဏအချင်အတွယ်များကိုလည်းကောင်း၊ အလေးချိန်ကိုလည်းကောင်း၊ အပြည့်ပေးကြလေကုန်။ ထို့ပြင် အသင်တို့သည် လူတို့အား (အရောင်းအဝယ်ပြုကြသောအခါဝယ်) ၎င်းတို့ပစ္စည်းများကို လျော့၍ မပေးကြကုန်လင့်။ ၎င်းပြင်အသင်တို့သည် ကမ္ဘာမြေဝယ် ဖျက်ဆီးသူများအဖြစ်ဖြင့် သောင်းကျန်းမှုကို မပြုကြကုန်လင့်။

بَقِيَّتُ اللّٰهِ خَيْرٌ لَّكُمْ اِنْ كُنْتُمْ مُّؤْمِنِيْنَ ۚ وَمَآ اَنَا عَلَيْكُمْ بِحَفِيْظٍ ﴿٨٦﴾

၈၆။ အကယ်၍အသင်တို့သည် မုအ်မင်န် သက်ဝင်ယုံကြည်သူများဖြစ်ကြပါလျှင် အလ္လာဟ်အရှင်မြတ် (ချီးမြှင့်တော်မူသော အရာများအနက်မှ) ကြွင်းကျန်သော *ဟလာလ် (ပစ္စည်း)ကား အသင်တို့ အဖို့ အကောင်းဆုံးပင်။* [1] စင်စစ်သော်ကား ငါသည် အသင်တို့အား (အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်မှ) ထိန်းသိမ်း စောင့်ရှောက်သူမဟုတ်ချေ။ (တာဝန်ခံမဟုတ်ချေ။)

---

➢➢ ထို့အတွက်ကြောင့်လည်း စီးပွားရေးတွင် သောင်းကျန်းနေခဲ့ကြသော မဒ်ယန်မျိုးနွယ်ဝင်တို့အား 'အသင်တို့သည် တိုင်းပြည်တွင် မသောင်းကျန်းကြနှင့်' ဟူ၍ သုံးနှုန်းမိန့်ဆိုထားတော်မူခြင်းဖြစ်သည်။
ကြည့်–မာဂျိဒီ။

ကုရ်အာန်ကျမ်းမြတ် (၈၃း၁–၃) တွင် အလေးတင်းတောင်းခိုးသူများအား ကြီးလေးသော ပြစ်ဒဏ်ခတ်တော်မူမည့် အကြောင်း မိန့်ဆိုထားတော်မူသည်။

(၁) ရှရီအတ်နှင့်အညီ သမ္မာအာဇီဝနည်းဖြင့် ရှာဖွေဆည်းပူးရရှိသော ဟလာလ်ပစ္စည်းသည် အဘယ်မျှပင်နည်းပါးလင့်ကစား မတရားသောနည်းဖြင့် ရှာဖွေဆည်းပူး၍ ရရှိထားသော ပစ္စည်း အမြောက်အမြားထက်ပို၍ပင်ကောင်းပေသည်။ အဘယ်ကြောင့်ဆိုသော် ဟလာလ်ပစ္စည်း၌ 'ဗရကတ်' မင်္ဂလာရှိသည်။ ဟရာမ်ပစ္စည်း၌မူ အမင်္ဂလာရှိသည်။ ဟလာလ်ပစ္စည်းသည် တိုးပွားသည်။ အလ္လာဟ်အရှင်မြတ် ကျေနပ်နှစ်သက်တော်မူရန် အကြောင်းလည်းဖြစ်ပေသည်။ ဟရာမ်ပစ္စည်းသည် မတိုးပွားချေ။ ဆုတ်ယုတ်သည်။ အလ္လာဟ်အရှင်မြတ် အမျက်တော်ထားရန်အကြောင်းလည်းဖြစ်သည်။

قَالُوْا يٰشُعَيْبُ اَصَلٰوتُكَ تَاْمُرُكَ اَنْ نَّتْرُكَ مَا يَعْبُدُ اٰبَآؤُنَآ اَوْ اَنْ نَّفْعَلَ فِيْٓ اَمْوَالِنَا مَا نَشٰٓؤُا ۭ اِنَّكَ لَاَنْتَ الْحَلِيْمُ الرَّشِيْدُ ﴿٨٧﴾

၈၇။ ၎င်း (အမျိုးသား)တို့က (နဗီတမန်တော် ရှုအိုက်ဗ်အား ဤသို့)ပြောဆိုခဲ့ကြ၏။ အို-ရှုအိုက်ဗ်၊ အသင်၏ ဆွလာတ်ဝတ်ပြုမှုသည် (သာသနာသည်) အသင့်အား ကျွန်ုပ်တို့(၏အကြီးအကဲများ ဖြစ်ကုန်သော) အဘ၊ ဘိုး၊ ဘေးတို့ ကိုးကွယ်ဆည်းကပ်ကြလေသောဘုရားများကို ကျွန်ုပ်တို့ စွန့်လွှတ်ရန်လည်းကောင်း၊ ကျွန်ုပ်တို့သည် မိမိတို့ဥစ္စာပစ္စည်းများတွင် မိမိတို့အလိုကျ ပြုလုပ်ကြသည်ကို ကျွန်ုပ်တို့ စွန့်လွှတ်ရန်လည်းကောင်း၊ စေခိုင်းပါသလော။ စေကန်အမှန် အသင်တစ်ဦးသည်သာလျှင် ဣန္ဒြေနှင့်ပြည့်စုံသောသူ၊ ရိုးသားဖြောင့်မတ်သောသူ ဖြစ်သည်လော။ [၁]

---

(၁) ဤအာယတ်တော်၏ အလိုသဘောမှာ ဤသို့ဖြစ်သည်။ 'တမန်တော် ရှုအိုက်ဗ်၏ အမျိုးသားများက တမန်တော်ရှုအိုက်ဗ်အား ပြက်ချော် ပြောင်လှောင်သည့်သဘောဖြင့် အို-ရှုအိုက်ဗ်၊ တော်ပါ၊ သူတော်စင်ကြီး လုပ်မနေပါနှင့်၊ ကျွန်ုပ်တို့ တမျိုးသားလုံးတွင် ဣန္ဒြေသိက္ခာရှိသူ၊ ရိုးသားဖြောင့်မတ်မှန်ကန်သူ၊ ကိုယ်ကျင့်တရားကောင်းသူ အသင်တစ်ဦးပင် ရှိလေသလော၊ ကျွန်ုပ်တို့နှင့် ကျွန်ုပ်တို့၏ အကြီးအကဲများဖြစ်ကြသော ဘိုးဘေးအားလုံးတို့သည် သူမိုက်များ လူ့ဗာလများချည်းဘဲ ဖြစ်ကြသည်ဟု အသင်ဆိုလိုသလောဟူ၏။

တမန်တော်ရှုအိုက်ဗ်သည် အမြောက်အမြား ဆွလာတ် ဝတ်ပြုတော်မူလေ့ရှိခဲ့သည်။ ထို့အတွက် တမန်တော်ရှုအိုက်ဗ်၏ အမျိုးသားများက တမန်တော်ရှုအိုက်ဗ်အား ကျွန်ုပ်တို့သည် မိမိတို့၏ဘိုးဘေးတို့၏ ဘာသာကို စွန့်ပစ်ကြရန်နှင့် မိမိတို့၏ ဥစ္စာပစ္စည်းများကို ဥစ္စာရှင်ပီပီ လွတ်လပ်စွာ မသုံးစွဲကြရန် အသင့်အား အသင်၏ဆွလာတ်ဝတ်ပြုမှုက အမိန့်ပေးသလော၊ အသင်သည် မိမိသဘောအတိုင်း ဆွလာတ်ဝတ်ပြုပါ။ သို့ရာတွင် ကျွန်ုပ်တို့၏ ဘာသာရေးနှင့် လောကီရေးရာများတွင်မူ ဝင်ရောက်မစွက်ဖက်ပါနှင့်' ဟု ဆိုကြလေသည်။

အချို့မုဖတ်စိစစ်ရှင်များက ဤအာယတ်တော်တွင် လာရှိသည့် 'စေကန်စင်စစ် အသင်သည် ဣန္ဒြေသိက္ခာနှင့် ပြည့်စုံသော၊ ရိုးသားဖြောင့်မတ်သောသူ အမှန်ပင်ဖြစ်ပါသည်' ဟူ၍ တမန်တော် ရှုအိုက်ဗ်၏ အမျိုးသားများက တမန်တော်ရှုအိုက်ဗ်နှင့်ပတ်သက်၍ သုံးနှုန်းခဲ့ခြင်းမှာ ပြက်ချော်ပြောင်လှောင်သည့် သဘောမျိုးဖြင့် မဟုတ်၊ အခြေအနေအရ အမှန်အတိုင်း သုံးနှုန်းခဲ့ကြခြင်းသာ ဖြစ်သည်ဟု ဆိုကြသည်။ ဆိုလိုသည်ကား အသင်သည် အမြော်အမြင်ရှိသူ၊ ဣန္ဒြေသိက္ခာနှင့်ပြည့်စုံသူ ရိုးသားဖြောင့်မတ်သူတစ်ဦး ဖြစ်သည်။ သို့ပါလျက် ယခုကဲ့သို့ မဆီမဆိုင် မလျော်ကန်သော စကားများကို အဘယ်အတွက် ပြောဟောနေသနည်းဟူ၏။

ဤသည့်သဘောအတိုင်းပင် တမန်တော် ဆွာလစ်ဟ်၏ အမျိုးသားများက တမန်တော် ဆွာလစ်ဟ်နှင့် ပတ်သက်၍ အသင်သည် ဤအလျှင် ကျွန်ုပ်တို့တွင် မျှော်လင့်အားထားဖွယ် ပုဂ္ဂိုလ်တစ်ဦးဖြစ်ခဲ့သည်။ အသင်သည် ကျွန်ုပ်တို့အား ကျွန်ုပ်တို့၏ ဘိုးဘေးများ ကိုးကွယ်ခဲ့ကြသောအရာကို မကိုးကွယ်ရန် ပိတ်ပင်တားမြစ် လေသလောဟု ဆိုခဲ့ဘူးကြလေသည်။

قَالَ يٰقَوۡمِ اَرَءَيۡتُمۡ اِنۡ كُنۡتُ عَلٰى بَيِّنَةٍ مِّنۡ رَّبِّىۡ وَرَزَقَنِىۡ مِنۡهُ رِزۡقًا حَسَنًا ؕ وَمَاۤ اُرِيۡدُ اَنۡ اُخَالِفَكُمۡ اِلٰى مَاۤ اَنۡهٰٮكُمۡ عَنۡهُ ؕ اِنۡ اُرِيۡدُ اِلَّا الۡاِصۡلَاحَ مَا اسۡتَطَعۡتُ ؕ وَمَا تَوۡفِيۡقِىۡۤ اِلَّا بِاللّٰهِ ؕ عَلَيۡهِ تَوَكَّلۡتُ وَاِلَيۡهِ اُنِيۡبُ ۝٨٨

၈၈။ (ထိုအခါ) ယင်း(နဗီတမန်တော်)ရှုအိုက်ဗ်က (မိမိအမျိုးသားတို့အား ဤသို့)ပြောဆို ဖြေကြားခဲ့လေ၏။ အို–ငါ၏အမျိုးသားတို့၊ အကယ်၍ ငါသည် မိမိအရှင်မြတ်ထံတော်မှ သက်သေခံအပေါ်၌ တည်ရှိခဲ့ပါလျှင်လည်းကောင်း၊ ထိုအရှင်မြတ်သည် ငါ့အား မိမိအထံတော်မှ *ကောင်းမွန်မြင့်မြတ်သော စားနပ်ရိက္ခာကို* [၁] ချီးမြှင့် ပေးသနားတော် မူခဲ့ပါလျှင် အသင်တို့သည် မည်သို့ယူဆကြပါသနည်း။ ၎င်းပြင် ငါသည် မိမိကိုယ်တိုင် အသင်တို့အား တားမြစ်သောကိစ္စကို *အသင်တို့နှင့်ဆန့်ကျင်၍ ကိုယ်တိုင်ပြုလုပ်ရန် ရည်စူးသည်မဟုတ်ပေ။* [၂] အမှန်စင်စစ် ငါသည် မိမိတတ်စွမ်းနိုင်သမျှ ကာလပတ်လုံး (အသင်တို့၏ ဆိုးရွားနေသော အခြေအနေကို) *ပြုပြင်ရန်သာလျှင် ရည်စူးလေသည်။*[၃] သို့ရာတွင် ငါ၏အောင်မြင်မှုကား အလ္လာဟ်အရှင်မြတ်၏ ကူညီမှု အပေါ်၌သာလျှင် ရှိနေပေရာ ငါသည် ထိုအရှင်မြတ်အပေါ်၌သာလျှင် ယုံကြည်အားထား၏။ ထိုမှတပါး ငါသည် ထိုအရှင်မြတ်ဖက်သို့သာလျှင် ပြန်လှည့်မည်ဖြစ်၏။

---

(၁) ဤအာယတ်တော်တွင် လာရှိသည့် 'ရဇ်က်' 'ရိက္ခာ'ဟူသည် အပြင်ရိက္ခာ (ဝါ) လူသားတို့ စားသုံးသော စားနပ်ရိက္ခာကိုလည်း ဆိုနိုင်သည်။ ဤသို့ယူဆလျှင် အလိုသဘောမှာ အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်အား ကောင်းမြတ်သော ရိက္ခာ သမ္မာအာဇီဝ တရားသဖြင့် ရှာဖွေဆည်းကပ် ရရှိသော 'ဟလာလ်' ပစ္စည်းကို ချီးမြှင့်ထားတော်မူ၏။

သို့မဟုတ် ရိက္ခာဟူသည် အတွင်းရိက္ခာ (ဝါ) အသိဉာဏ် အမြော်အမြင်နှင့် 'နုဗုဝါတ်' နဗီအဖြစ်ကို ချီးမြှင့်ထားတော်မူသည်ဟူ၏။

အချုပ်ဆိုလိုရင်းမှာ အကယ်၍ အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်အား အသိဉာဏ် အမြော်အမြင်နှင့် နုဗုဝါတ်ကို ချီးမြှင့်၍ အသင်တို့မသိမမြင်သော တရားဒေသနာတော်ကို ပြတော်မူသော် အသင်တို့ မရရှိကြသည့် ကောင်းမြတ်သော ဥစ္စာပစ္စည်းကို ပေးတော်မူသော ကျွန်ုပ်သည် အသင်တို့ကဲ့သို့ပင် မျက်ကန်းဖြစ်စေပြီး ထိုအရှင်မြတ်၏ အမိန့်တော်များကို သွေဖည်ငြင်းဆန်ရမည်လော၊ သို့မဟုတ် အသင်တို့၏ ပြောင်လှောင်ပြက်ချော်မှုကို ကြောက်ရွံ့ပြီး တရားဓမ္မမဟောဘဲ နေရမည်လော၊ ဤသို့ကား အလျှင်းမဖြစ်နိုင်ဟူ၏။

وَيٰقَوْمِ لَا يَجْرِمَنَّكُمْ شِقَاقِيْٓ اَنْ يُّصِيْبَكُمْ مِّثْلُ مَآ اَصَابَ قَوْمَ نُوْحٍ اَوْ قَوْمَ هُوْدٍ اَوْ قَوْمَ صٰلِحٍ ؕ وَمَا قَوْمُ لُوْطٍ مِّنْكُمْ بِبَعِيْدٍ ﴿٨٩﴾

၈၉။ အမှန်သော်ကားအို-ငါ၏အမျိုးသားတို့၊ ငါနှင့် စိတ်ဝမ်းကွဲပြားမှုသည် အသင်တို့၌(နဗီတမန်တော်) 'နူဟ်' ၏အမျိုးသားတို့၌ သက်ရောက်ခဲ့ဘိသကဲ့သို့သော ဘေးဒုက္ခမျိုးသော်လည်းကောင်း၊ (နဗီတမန်တော်) 'ဟူဒ်' ၏အမျိုးသားတို့၌ သက်ရောက်ခဲ့ဘိသကဲ့သို့သော ဘေးဒုက္ခမျိုးသော်လည်းကောင်း၊ (နဗီတမန်တော်) 'ဆွာလိဟ်'၏ အမျိုးသားတို့၌ သက်ရောက်ခဲ့ဘိသကဲ့သို့သော ဘေးဒုက္ခမျိုးသော်လည်းကောင်း၊ သက်ရောက်စေရန် အသင်တို့အား အလျင်း လှုံ့ဆော်ဖန်တီးသည် မရှိစေရ။ [၁] ၎င်းပြင် (နဗီ တမန်တော်) 'လူတ်'၏ အမျိုးသား တို့(၌ သက်ရောက်ခဲ့သော ပြစ်ဒဏ်)မှာလည်း သင်တို့နှင့် မဝေးလှပေ။ [၂]

---

(၂) ဆိုလိုသည်ကား ကျွန်ုပ်အသင်တို့အား မကျူးလွန်ရန် တားမြစ်ထားသော မှုပြစ်များကို ကျွန်ုပ်တို့သည် အသင်တို့ကို ဖဲကြဉ်ပြီး မိမိကိုယ်တိုင်ပြုလုပ်ရန် မိမိ၌ဆန္ဒ အလျင်းမရှိပေ။ ဥပမာ-ကျွန်ုပ်သည် အသင်တို့အား လောကီရေးရာများကိုစွန့်၍ တောထွက်ကြရန် ပြောဟောပြီး မိမိကိုယ်တိုင် လောကီစည်းစိမ်များကို စုဆောင်းခံစားရန် ဆန္ဒအလျင်းမရှိပါ။ ကျွန်ုပ်သည် အသင်တို့အား ဆိုဆုံးမသောအရာများကို အသင်တို့ အလျင်ဦးစွာ ပထမလိုက်နာကျင့်သုံးခဲ့သည်။ ထို့အတွက်ကြောင့်လည်း အသင်တို့သည် ကျွန်ုပ်အား တစ်စုံတစ်ရာ လာဘ်လာဘ အာသာဆန္ဒ အတွက် ယခုကဲ့သို့ ဟောပြောသည်ဟူ၍ကား အလျင်းစွပ်စွဲ မပြောဆိုနိုင်ကြပေ။

(၃) ဆိုလိုသည်ကား ကျွန်ုပ်သည် အသင်တို့၏ လောကီရေး၊ လောကုတ္တရာရေးများကို မှန်ကန်အောင် ပြုပြင်ပေးရန်သာ ရည်စူးသည်။ ကျွန်ုပ်၏ ကြိုးပမ်းမှုအစုစုတို့၏ အဓိကရည်ရွယ်ချက်မှာလည်း ဤသည့်အချက်ပင် ဖြစ်သည်။ ကျွန်ုပ်၌ ဤရည်ရွယ်ချက်မှတပါး အခြားရည်ရွယ်ချက်မရှိ၊ ဤရည်ရွယ်ချက် ထမြောက်အောင်မြင်ရန် အလို့ငှာ ကျွန်ုပ်သည် တတ်စွမ်းနိုင်သမျှ ကြိုးပမ်းမည်ပင်ဖြစ်သည်။ သို့တစေလည်း ကျွန်ုပ်၏ရည်ရွယ်ချက် ထမြောက်အောင်မြင်ဖို့ အရေးမှာ အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာရှိသည်။ ကိစ္စအဝဝတို့သည် ထိုအရှင်မြတ်၏ ကူညီစောင်မမှု၊ အကြောင်းဖန်တီးပေးမှု အပေါ်၌သာ တည်ရှိပေသည်။ ကျွန်ုပ်သည် ထိုအရှင်မြတ် အားသာလျှင် ယုံပုံလွှဲအပ်ထားသည်။ ကိစ္စအဝဝတွင်လည်း ထိုအရှင်မြတ်ဘက်သို့သာ ပြန်လှည့်ပါသည်။ သို့ဖြစ်ပေရာ အသင်တို့သည် လက်ရှိ အခြေအနေ အခြေဆိုး အနေဆိုးမှ ထွက်၍ တစ်ဆူတည်းသော ထိုအရှင်မြတ် အား အီမာန်ယုံကြည်ကာ လောကီ လောကုတ္တရာရေးများတွင် အထွတ်အထိပ်သို့ ရောက်ရှိရန် ကြိုးပမ်းကြကုန်ဟူ၏။

(၁) အလိုသဘောကား စိတ်ဝမ်းကွဲပြားမှု မလိုမုန်းတီးမှုများသည် မှုပြစ်များကို ကျူးလွန်ရန် အကြောင်းတရား မဖြစ်သင့်။ လူတစ်ဖက်သားအား မလိုမုန်းတီးသည့်အတွက် လူတစ်ဖက်သားနှင့် စိတ်ဝမ်းကွဲပြားသည့် >>

၉၀။ ထိုမှတပါး အသင်တို့သည် မိမိတို့၏အရှင်မြတ်အထံတော်၌ လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြားကြလေကုန်။ ထို့နောက် အသင်တို့သည် (မိမိတို့၏အာရုံကို) ထိုအရှင်မြတ်ဖက်သို့သာလျှင် လှည့်ကြလေကုန်။ ဧကန်မလွဲ ငါ့အားဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် အလွန်တရာ ချစ်ကြင်တော်မူသော အရှင်မြတ်ပင်တည်း။ [၁]

وَاسْتَغْفِرُوا رَبَّكُمْ ثُمَّ تُوبُوا إِلَيْهِ ۚ إِنَّ رَبِّي رَحِيمٌ وَدُودٌ ﴿٩٠﴾

၉၁။ ယင်း(အမျိုးသား)တို့က (ဤသို့)ပြောဆို (ကြိမ်းမောင်း)ခဲ့ကြလေသည်။ အို-ရှုအိုက်ဗ်၊ ကျွန်ုပ်တို့သည် အသင်ပြောဆိုသောစကားများအနက် *များစွာသောစကားများကိုလည်း နားမလည်နိုင်ကြပေ။* [၂] ထို့ပြင်ဧကန်အမှန် ကျွန်ုပ်တို့သည် အသင့်အား မိမိတို့အထဲတွင် *အင်အားချိနဲ့သူတစ်ယောက် ဟူ၍သာ မြင်နေကြပေသည်။* [၃]

قَالُوا يَا شُعَيْبُ مَا نَفْقَهُ كَثِيرًا مِّمَّا تَقُولُ وَإِنَّا لَنَرَاكَ فِينَا ضَعِيفًا ۖ وَلَوْلَا رَهْطُكَ لَرَجَمْنَاكَ ۖ وَمَا أَنتَ عَلَيْنَا

➤➤ အတွက် မှုပြစ်များကို မကျူးလွန်သင့်။ ကျူးလွန်လျှင် ပြစ်ဒဏ်တော်သင့်မည်။ အတိတ်ခေတ်များတွင် ဤသို့မှုပြစ်များကို ကျူးလွန်ခဲ့ကြသော အမျိုးသားများသည် ပြစ်ဒဏ် တော်အမျိုးမျိုးသင့်ပြီး အသီးသီးမရှုမလှ အပျက်ကြီး ပျက်စီးသွားခဲ့ကြပေပြီ။ ဥပမာ တမန်တော် နူဟ်၏အမျိုးသားများ၊ တမန်တော်ဟူဒ်၏ အမျိုးသားများ၊ တမန်တော်ဆွာလစ်ဟ်၏ အမျိုးသားများသည် ဒေသနာတော်များကို သွေဖည်ငြင်းဆန်မနာခံဘဲ တမန်တော်များအား ရန်မူပြီး မှုပြစ်အမျိုးမျိုးကို ကျူးလွန်ခဲ့ကြသည့်အတွက် အသီးသီး ပြစ်ဒဏ်တော်သင့်၍ ပျက်စီးသွားခဲ့ကြချေပြီ၊ ထိုအမျိုးသားများကား ခေတ်အားဖြင့်ဝေးကွာလှသေး၏။ သို့ရာတွင် တမန်တော်လူတ်၏အမျိုးသားများ ပျက်ဆီးသွားခဲ့သည့် ခေတ်မှာကား မကြာသေးချေ။ မဝေးကွာသေးချေ။ မမေ့အပ်သေးပေ။

(၂) 'တမန်တော်လူတ်၏ အမျိုးသားများသည် အသင်တို့နှင့် မဝေးကွာလှပေ'။ ဟူသော အာယတ်တော်တွင် မဝေးကွာခြင်းဟူသည် နေရာဌာနအားဖြင့် မဝေးကွာဟုလည်း ယူဆနိုင်သည်။ ခေတ်အခါအားဖြင့်လည်း ယူဆနိုင်သည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်လူတ်၏ အမျိုးသားများ၏ နေထိုင်ရာဒေသသည် တမန်တော်ရှုအိုက်ဗ်၏ အမျိုးသားများ နေထိုင်ရာဒေသ မဒ်ယန်နှင့်လည်း မဝေးကွာပေ။ ထို့အတူ တမန်တော်လူတ်၏ အမျိုးသားများ ပျက်စီးသွားခဲ့သည့် ခေတ်သည်လည်း တမန်တော်ရှုအိုက်ဗ်၏ အမျိုးသားများ၏ ခေတ်နှင့် မဝေးကွာလှပေ။

(၁) အဘယ်မျှပင်ကြီးမားသည့် မှုပြစ်ကို ကျူးလွန်မိသူတစ်ဦးဖြစ်စေကာမူ အကယ်၍ စိတ်စေတနာဖြူစင်စွာဖြင့် အလ္လာဟ်အရှင်မြတ်ထံတော်၌ ဝန်ချတောင်းပန် အသနားခံ၍ ထိုအရှင်မြတ်ဘက်တော်သို့ အသက်ထက်ဆုံး အာရုံပြုနေပါလျှင် ထိုအရှင်မြတ်သည် မိမိ၏အနန္တကရုဏာတော်ဖြင့် ထိုသို့သောသူအား လွတ်ငြိမ်းချမ်းသာ➤➤

➤➤ ပေးတော်မူမည်ဖြစ်သည်။ လွတ်ငြိမ်းချမ်းသာ ပေးတော်မူမည်သာမက ထိုအရှင်မြတ်သည် ထိုသူ့အား ချစ်ကြင်သနားတော်မူဦးမည်လည်းဖြစ်သည်။

(၂) မဒ်ယန်မြို့သားများက တမန်တော်ရှုအိုက်ဗ်အား 'ကျွန်ုပ်တို့သည် အသင်ပြောဆိုသော စကားများအနက် များစွာသော စကားများကို နားမလည်ကြပါ'ဟု ပြောဆိုခြင်းမှာ (က) အာရုံစူးစိုက်၍ ကောင်းစွာ နားမထောင်မိခဲ့ကြသည့်အတွက် ပြောဆိုခြင်းလည်းဖြစ်နိုင်ပေသည်။ (ခ) သို့တည်းမဟုတ် တမန်တော်ရှုအိုက်ဗ်အား မလိုမုန်းတီး၍ သေးသိမ်ရှုတ်ချသည့်အနေဖြင့် ပြောဆိုခြင်းလည်း ဖြစ်နိုင်ပေသည်။ အဘယ်ကြောင့်ဆိုသော် ဘာသာမဲ့လူတန်းစား သူမိုက်များသည် ပြန်လည် မချေပနိုင်ကြသည့် အဆုံးတွင် ဤကဲ့သို့ ရှုတ်ချကဲ့ရဲ့ ပြစ်တင်ပြောဆိုလေ့ရှိကြပေသည်။ ကြည့်-ထာနဝီ။

အဆိုပါ အဆို ၂-ရပ်အနက် ဒုတိယအဆိုသည် ပိုမိုသင့်မြတ်ပေသည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်ရှုအိုက်ဗ်သည် မဒ်ယန်မျိုးနွယ်ဝင်တစ်ဦးဖြစ်သည်။ ဘာသာစကားတူလည်း ဖြစ်သည်။ ထို့ပြင်တဝ တမန်တော်ရှုအိုက်ဗ်သည် စကားပြောဆိုသုံးနှုန်းရာတွင် အလွန်ကျွမ်းကျင်တော်မူခဲ့သည့်အတွက် လိမ္မာရေးခြားရှိတော်မူခဲ့သည့်အတွက် 'ခတွီဗုလ်အန်ဗိယာ' ဘွဲ့ကို ခံယူတော်မူခဲ့ပေသည်။ သို့ဖြစ်ပေရာ တမန်တော်ရှုအိုက်ဗ်အဆုံးအမ သြဝါဒတရားဓမ္မများကို နားမလည်ပါဟု မဒ်ယန်မျိုးနွယ်ဝင်များက ဆိုခြင်းမှာ ရိုးရိုးသားသားဆိုခြင်းမဟုတ်၊ မလိုမုန်းတီး၍ ဆိုခြင်းသာ ဖြစ်ပေမည်။

(၃) 'ကျွန်ုပ်တို့သည် အသင့်အား မိမိတို့တွင် အားနည်းသူတစ်ဦးအဖြစ်သာ တွေ့မြင်ကြသည်'။ ဆိုလိုသည်ကား အသင်၌ အစွမ်းသတ္တိ တစ်စုံတစ်ရာမရှိ၊ အသင်သည် တစ်စုံတစ်ရာ အကျိုးကို သက်ရောက်စေနိုင်သည်လည်းမရှိ။ အကျိုးဆုတ်ယုတ်စေနိုင်သည်လည်းမဟုတ်။ တစ်စုံတစ်ရာဘေးဒုက္ခကို ကာကွယ်ပေးနိုင်သည်လည်း မရှိဟူ၏။

အချို့ပညာရှင်များက ဤအာယတ်တော်တွင်ပါရှိသည့် 'ဿွအိဖ်' ဟူသော ပုဒ်ကို 'မျက်စိကွယ်သူ' ဟူ၍ အနက်ဖွင့်ဆိုကြသည်။ တမန်တော်ယအ်ကူဗ်သည် သားတော် တမန်တော်ယူစွဖ်နှင့် ကွဲကွာနေခဲ့ရသည့်အတွက် မျက်စိကွယ်သွားဘိသကဲ့သို့ တမန်တော်ရှုအိုက်ဗ်သည်လည်း တချိန်တွင် ယာယီအားဖြင့် မျက်စိကွယ်သွားခဲ့ဘူးဟန်ရှိသည်။

အချို့ 'ရိဝါယတ်'တဆင့် ဟောကြားချက်များတွင် လာရှိသည်မှာ တမန်တော်ရှုအိုက်ဗ်သည် အလွန်တရာမျှ ငိုကြွေးလေ့ရှိသည့်အတွက် နောက်ဆုံးတွင် မျက်စိပင်ကွယ်သွားခဲ့လေသည်။ ယင်းသို့ မျက်စိကွယ်သွားသည့်အခါ အလ္လာဟ်အရှင်မြတ်က 'အို-ရှုအိုက်ဗ်၊ အသင် ဤရွေ့ဤမျှ အဘယ်အတွက်ကြောင့် ငိုကြွေးရသနည်း။ ဂျန္နတ်ကို ဆန္ဒပြင်းပြ၍လော၊ ဂျဟန္နမ်ကို ကြောက်ရွံ့၍လောဟု မေးမြန်းတော်မူရာ တမန်တော်ရှုအိုက်ဗ်က 'အို-အရှင်မြတ်၊ အရှင်မြတ်အား ဖူးမျှော်ရမည်ကို တွေးတော၍ ငိုကြွေးခြင်းဖြစ်ပါသည်။

ယင်းသို့ အရှင်မြတ်အား ဖူးတွေ့ရသည့်အခါ အရှင်မြတ်သည် မည်သို့ပြုတော်မူမည်ကို မသိပါဟု လျှောက်ထား လေသည်။ ထိုအခါ အရှင်မြတ်က--

'အို-ရှုအိုက်ဗ်၊အသင်သည်ငါ့အား ဖူးမျှော်ခွင့်မင်္ဂလာခံယူရသည် ဖြစ်စေသတည်း။ ထို့အတွက်လည်း ငါအရှင်မြတ်သည်အိမ်ရာန်၏သား တမန်တော်မူစာကိုအသင့်အားပြုစုရန်အတွက် စေလွှတ်တော်မူလိုက်ခြင်းဖြစ်သည်'

ဟု မိန့်ကြားတော်မူလေသည်။ ထို့နောက် အလ္လာဟ် အရှင်မြတ်သည် တမန်တော် ရှုအိုက်ဗ်အား မျက်စိအလင်းကို ပြန်လည် ချီးမြှင့်တော်မူလေသည်။ (ဖြစ်ရပ်မှန်ကို အလ္လာဟ်အရှင်မြတ်သည်ပင် အသိဆုံးပင် ဖြစ်တော်မူသည်။)

بِعَزِيزٍ ﴿٩١﴾

စင်စစ်မူကား အသင်၏သားချင်းတို့သာ မရှိခဲ့ကြပါလျှင် ကျွနုပ်တို့သည်အသင့်အား ကျောက်ခဲများဖြင့် ပစ်သတ်ကြမည်မှာ ဧကန်မလွဲပင်။ စင်စစ်သော်ကား အသင်သည် *ကျွနုပ်တို့အပေါ်ဝယ် လွှမ်းမိုးကြီးစိုးနေသူလည်း မဟုတ်ချေ။* [၁]

قَالَ يٰقَوْمِ اَرَهْطِيْٓ اَعَزُّ عَلَيْكُمْ مِّنَ اللّٰهِ ۗ وَاتَّخَذْتُمُوْهُ وَرَآءَكُمْ ظِهْرِيًّا ۗ اِنَّ رَبِّيْ بِمَا تَعْمَلُوْنَ مُحِيْطٌ ﴿٩٢﴾

၉၂။ (ထိုအခါ) ယင်း(နဗီတမန်တော်) ရှုအိုက်ဗ်က (ဤသို့)ပြောဆိုဖြေကြားခဲ့လေသည်။ အို-ငါ၏အမျိုးသားတို့၊ ငါ၏သားချင်းတို့သည် အသင်တို့ရှေ့၌ အလ္လာဟ်အရှင်မြတ်ထက်ပင် ပို၍ မြင့်မြတ်ကြပါသလော၊ စင်စစ်မှာမူကားအသင်တို့သည် ထိုအရှင်မြတ်ကိုပင် မိမိတို့၏ကျောနောက်တွင် အမှုမဲ့အမှတ်မဲ့ ပစ်ပယ်ထားခဲ့ကြကုန်၏။ ဧကန်မလွဲ ငါ၏အရှင်မြတ်သည် အသင်တို့ ပြုလုပ်လျက်ရှိကြသည်ကို ဝန်းခြုံထားတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။ [၂]

---

(၁) ဆိုးမိုက်သောလူမျိုးများသည် အာဏာတန်ခိုးကိုသာ အင်အားဟူ၍ မှတ်ယူလေ့ရှိခဲ့ကြသည်။ မဒ်ယန်မျိုးနွယ်ဝင်များကလည်း ဆိုးမိုက်ခဲ့ကြသည့်အလျောက် တမန်တော်ရှုအိုက်ဗ်၏ တရားဓမ္မ အဆုံးအမများနှင့် စပ်လျဉ်း၍ သက်သေသာဓက ကျိုးကြောင်းပြ၍ ပြန်လည်ချေပ ပြောဆိုရမည့်အစား 'အသင်သည် ကျွနုပ်တို့အပေါ်၌ လွှမ်းမိုးကြီးစိုးသူမဟုတ်၊ အာဏာသည် ကျွနုပ်တို့၏လက်တွင်း၌သာ ရှိသည်။ ကျွနုပ်တို့သည် မိမိတို့နှင့် ဝါဒတူ၊ ဘာသာတူ ဖြစ်နေကြသော အသင်၏သားချင်းများကို ထောက်ထားနေကြသည်။ အသင်၌ ထိုသားချင်းများသာ မရှိပါက ကျွနုပ်တို့သည် အသင့်အား ကျောက်ခဲဖြင့် ပစ်သတ်ပြီး ဖြစ်ကြသည်'ဟု ကြိမ်းမောင်း ပြောဆိုကြလေသည်။

အတိတ်ခေတ်သူမိုက်များသည် သားချင်းတို့အား အထူးတလည် ထောက်ထားလေးစားလေ့ရှိခဲ့ကြ၏။ ၎င်းတို့ထံ အကြီးဆုံးသော ပြစ်ဒဏ်မှာ ခဲဖြင့်ပေါက်သတ်စေခြင်းပင် ဖြစ်သည်။ ဤသည်ရာဇဝင်အထင်အရှားပင်။

မာဂျိဒီ။ အ-၃။ စ-၄၇၅။ အအ-၁၃၅။

(၂) ဆိုလိုသည်ကား တမန်တော် ရှုအိုက်ဗ်က မိမိ၏အမျိုးသားများအား အံ့ဩကြီးစွာဖြင့် ပြန်လည်ဖြေကြားတော်မူသည်မှာ 'အို-ငါ၏အမျိုးသားများ၊ အသင်တို့ ပြောဆိုကြသည့်အတိုင်း ဆိုလျှင် အသင်တို့သည် ကျွနုပ်အား ထောက်ထားနေကြသည်။ သို့ထောက်ထားခြင်းမှာ ကျွနုပ်သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်ဖြစ်သည့်အတွက် ထောက်ထားခြင်းမဟုတ်၊ ကျွနုပ်သည် မိမိမှန်ကန်ကြောင်းနှင့်စပ်လျဉ်း၍ ထင်ရှားသော➤➤

وَيٰقَوْمِ اعْمَلُوْا عَلٰى مَكَانَتِكُمْ
اِنِّيْ عَامِلٌ ۭ سَوْفَ تَعْلَمُوْنَ ۙ
مَنْ يَّاْتِيْهِ عَذَابٌ يُّخْزِيْهِ
وَمَنْ هُوَ كَاذِبٌ ۭ وَارْتَقِبُوْٓا
اِنِّيْ مَعَكُمْ رَقِيْبٌ ﴿٩٣﴾

၉၃။ ၎င်းပြင် (ဤသို့ ပြောကြားခဲ့၏။) အို-
ငါ၏အမျိုးသားတို့၊ အသင်တို့သည် မိမိတို့(နေရာ
တွင် မိမိတို့) တတ်စွမ်းနိုင်သမျှ ကျင့်မူကြလေကုန်။
ဧကန်စင်စစ်ငါသည်(လည်း မိမိအနေနှင့်)ကျင့်မူလျက်
ပင်။ အသင်တို့သည် မည်သူ့ထံ ထိုသူအား အရှက်
တကွဲ အကျိုးနည်းဖြစ်စေသော ပြစ်ဒဏ် ရောက်ရှိ
လာသည်ကို လည်းကောင်း၊ မည်သူမှုသာဝါဒီဖြစ်
သည်ကို လည်းကောင်း၊ မကြာမြင့်မီပင် သိရှိကြ
ပေမည်။ [၁] ထို့မှတပါး အသင်တို့သည် စောင့်မျှော်
ကြလေကုန်။ ဧကန်အမှန် ငါသည်လည်း အသင်တို့
နှင့်အတူ စောင့်မျှော်မည့်သူပင်။

---

➤➤ သက်သေလက္ခဏာများ ပြသသည့်အတွက် ထောက်ထားခြင်းလည်းမဟုတ်၊ ကျွန်ုပ်၏သားချင်းများ ရှိနေသည့်အတွက်ကြောင့်သာ အသင်တို့သည် ကျွန်ုပ်အား ငဲ့ညှာထောက်ထားနေကြသည်။

သို့ဖြစ်ပေရာ တနည်းအားဖြင့် အသင်တို့ထံ၌ ကျွန်ုပ်၏သားချင်းများသည် (မပြောစကောင်း မဆိုစကောင်း) အလ္လာဟ်အရှင်မြတ်ထက်ပင် ပိုမိုလေးစား ထောက်ထားအပ်လေသလော။ ဤကား အံ့သြဖွယ် ကောင်းလှပေသည်။

အသင်တို့ကား မိုက်မဲလှကြပါဘိ၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ အနန္တော အနန္တ တန်ခိုးတေဇော် အာနုဘော်များကို လုံးဝမေ့ပျောက်ကာ ထိုအရှင်မြတ်အား (မပြောစကောင်း မဆိုစကောင်း) လုံးဝ လျစ်လျူပြုထားကြလေပြီ။ မေ့ပျောက်ထားကြလေပြီ။ သို့ရာတွင် အသင်တို့ ပြုလုပ် ကျင့်ကြံသမျှတို့ကို ထိုအရှင်မြတ် အကြွင်းမဲ့သိတော်မူသည်။ ထိုအရှင်မြတ်၏ အာဏာတော်အတွင်းမှ မည်သူတစ်ဦးမျှ လွတ် မြောက်သွားနိုင်သည်မရှိသည်ကိုမူ အသင်တို့ ကောင်းစွာသိထားအပ်သည်ဟူ၏။

(၁) တမန်တော် ရှုအိုက်ဗ်(အလိုင်ဟစ္စလာမ်)သည် မိမိ၏အမျိုးသားများအား အမျိုးမျိုး ကျိုးကြောင်းပြ၍ တရားမေ့ သွန်သင်ဆုံးမတော်မူခဲ့သော်လည်း ယင်းအမျိုးသားများ၌ အနည်းငယ် စိုးစဉ်းမျှပင် အရာမထင်ခဲ့ပေ။ ထိုအခါ တမန်တော်ရှုအိုက်ဗ်သည် မိမိ၏အမျိုးသားများအား နောက်ဆုံးစကားအနေဖြင့် ကောင်းပြီ၊ အသင်တို့သည် ယခုထက်တိုင်ကျွန်ုပ်အား မုသာဝါဒီဟူ၍ ထင်မှတ်လာခဲ့ကြသည်။ သေးသိမ်၊ သေးနုတ်သည်ဟူ၍ ထင်မြင်ခဲ့ကြ သည်။ သို့ဖြစ်ရာ အသင်တို့သည်လည်း မိမိတို့ နေရာတွင် လုပ်မြဲအတိုင်း လုပ်ကြ။ ကျွန်ုပ်လည်း ကျွန်ုပ်၏ နေရာတွင် မိမိလမ်းစဉ်အတိုင်း လုပ်မည်။ မည်သူ မုသာဝါဒီဖြစ်သည်။ မည်သူအရှက်တကွဲ အကျိုးနည်း ဖြစ်ရမည်ကို အသင်တို့ မကြာမီအတွင်း သိကြရတော့မည်ဟု သတိပေးစကား ပြောကြားတော် မူလိုက်လေ သတည်း။ မာဂျိဒီ။ အ-၃။ စ-၄၇၉ ။ အအ- ၁၃၇။

وَلَمَّا جَآءَ أَمْرُنَا نَجَّيْنَا شُعَيْبًا
وَّالَّذِيْنَ اٰمَنُوْا مَعَهٗ
بِرَحْمَةٍ مِّنَّا وَاَخَذَتِ
الَّذِيْنَ ظَلَمُوا الصَّيْحَةُ
فَاَصْبَحُوْا فِيْ دِيَارِهِمْ
جٰثِمِيْنَ ﴿٩٤﴾

၉၄။ ၎င်းနောက် ငါအရှင်မြတ်၏အမိန့်တော်သည် ရောက်ရှိလာသောအခါ ငါအရှင်မြတ်သည် မိမိ၏ ကရုဏာတော်ဖြင့် (နဗီတမန်တော်)ရှုအိုက်ဗ်နှင့်တကွ ယင်း (နဗီတမန်တော်)ရှုအိုက်ဗ်နှင့်အတူ သက်ဝင် ယုံကြည်ခဲ့ကြသော သူတို့ကိုပါ ကယ်ဆယ်တော်မူခဲ့ လေသည်။ သို့ရာတွင် မတရား ပြုကျင့်ခဲ့ကြကုန် သောသူတို့ကိုကား ကျယ်လောင်သော အသံသည် ဖမ်းဆီးကွပ်မျက်ခဲ့လေရာ ၎င်းတို့သည် နံနက်အချိန် တွင် မိမိတို့နေအိမ်များ၌ မှောက်လျက်သား ဖြစ်နေ ခဲ့ကြကုန်သတည်း။ (သေကြေပျက်စီး သွားခဲ့ကြလေ သတည်း။)[၁]

كَاَنْ لَّمْ يَغْنَوْا فِيْهَا ۗ اَلَا بُعْدًا
لِّمَدْيَنَ كَمَا بَعِدَتْ
ثَمُوْدُ ﴿٩٥﴾

၉၅။ ၎င်းတို့သည် ထိုအိမ်များတွင် မနေခဲ့ဘူးကြ သကဲ့သို့ပင်။ သတိပြုကြလေကုန်၊ 'စမူဒ်' အမျိုးသား တို့သည် (အလ္လာဟ်အရှင်မြတ်၏ကရုဏာတော်မှ) ကင်းဝေးခဲ့ကြဘိသကဲ့သို့ပင် မဒ်ယန်(မြို့သူမြို့သား) တို့၌လည်း (ထိုအရှင်မြတ်၏ကရုဏာတော်မှ) ကင်း ဝေးခြင်းသည် ရှိစေသတည်း။

---

(၁) တမန်တော်ရှုအိုက်ဗ်က မိမိ၏အမျိုးသားများအား နောက်ဆုံးသတိပေးစကား ပြောကြားခဲ့သည့်အတိုင်း များမကြာမီအတွင်းမှာပင် မဒ်ယန်မြို့သားများထံသို့ အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်တော် ဆိုက်ရောက်လာ ခဲ့လေသည်။ ထိုအချိန်တွင် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကရုဏာတော်ဖြင့် တမန်တော်ရှုအိုက်ဗ်နှင့်တကွ မုအ်မင်န်တို့အား ကယ်တင်တော်မူလိုက်လေသည်။ မဒ်ယန်မျိုးနွယ်ဝင်များအနက် တရားဒေသနာတော်ကို သွေဖည်ငြင်းဆန် မနာခံသောကျူးကျော် စော်ကားသောသူများကိုမူ ကျယ်လောင်သောအသံသည် ဖမ်းဆီးကွပ်မျက် လိုက်လေရာ ၎င်းတို့သည် မိမိတို့နေအိမ်များတွင် မှောက်လျက်သား မရှုမလှ သေကြေပျက်စီးသွားခဲ့ကြလေသည်။

**မှတ်ချက်။**

ကုရ်အာန်ကျမ်းမြတ် (၇း၉၁)တွင် မဒ်ယန်မြို့သားများကို 'ရဂ်ျဖဟ်' မြေငလျင်က ဖမ်းဆီးကွပ်မျက် သည့်အကြောင်းပါရှိ၏။ ဤအာယတ်တော်တွင် 'ဆိုင်ဟဟ်' ကျယ်လောင်သောအသံက ဖမ်းဆီးကွပ်မျက်သည့် အကြောင်းပါရှိ၏။ ပြစ်ဒဏ်တော် ၂-ရပ်လုံးသည် တချိန်တည်းဆိုက်ရောက်နိုင်၏။ ဆမူဒ် အမျိုးသားများထံသို့ လည်း အဆိုပါ ပြစ်ဒဏ်တော် ၂-ရပ်လုံး ဆိုက်ရောက်ခဲ့၏။ ကုရ်အာန်ကျမ်းမြတ် (၇း၇၈)တွင် 'ရဂ်ျဖဟ်' ဆိုက်ရောက်ခဲ့ကြောင်း ပါရှိ၏။ ကုရ်အာန် (၁၁း၆၇)တွင် ဆိုင်ဖဟ် ဆိုက်ရောက်ခဲ့ကြောင်း ပါရှိ၏။ ➤➤

وَلَقَدْ أَرْسَلْنَا مُوسَىٰ بِآيَاتِنَا وَسُلْطَانٍ مُّبِينٍ ﴿٩٦﴾

၉၆။ ထို့ပြင် မလွဲစကန် ငါအရှင်မြတ်သည် (နဗီ တမန်တော်)မူစာအား *မိမိသက်သေလက္ခဏာများနှင့် လည်းကောင်း၊ ထင်ရှားစွာသောသက်သေခံတစ်ရပ်နှင့် လည်းကောင်း၊* [1] စေလွှတ်တော်မူခဲ့လေသတည်း။

إِلَىٰ فِرْعَوْنَ وَمَلَئِهِ فَاتَّبَعُوا أَمْرَ فِرْعَوْنَ ۖ وَمَا أَمْرُ فِرْعَوْنَ بِرَشِيدٍ ﴿٩٧﴾

၉၇။ ဖစ်ရ်အောင်န်၏ထံသို့လည်းကောင်း၊ ယင်း ဖစ်ရ်အောင်န်၏အကြီးအကဲ (မှူးကြီးမတ်ရာ)များထံ သို့လည်းကောင်း၊ သို့ရာတွင် ၎င်းမူကား *ဖစ်ရ်အောင်န် တို့၏အမိန့်ကိုပင် လိုက်နာနေခဲ့ကြကုန်၏။* [2] စင်စစ် ဆိုသော် ဖစ်ရ်အောင်န်၏အမိန့်သည် လုံးဝသင့်တော် မှန်ကန်သော လမ်းမှန်သောအမိန့်မဟုတ်ခဲ့ပေ။

---

➤➤ ထို့အတွက်ကြောင့်လည်း ဤအာယတ်တော်တွင် 'သတိပြုကြကုန်၊ ဆမူဒ် အမျိုးသားများသည် ကရုဏာတော်နှင့် ကင်းဝေးခဲ့ကြသကဲ့သို့ မဒ်ယန်မြို့သားများသည်လည်း ကရုဏာတော်နှင့်ကင်းဝေးကြသည် ဖြစ်စေသတည်း'ဟု နှိုင်းယှဉ် မိန့်ဆိုထားတော်မူခြင်းဖြစ်ပေသည်။ ထာနဝီ၊ အ-၅။ စ-၆၄။

① ဤအာယတ်တော်တွင်လာရှိသည့် ငါ၏သက်သေလက္ခဏာများဟူသည် ကုရ်အာန်ကျမ်းမြတ် (၁၇း၁၀၁။ ၂၇း၁၂)တွင်ပါရှိသည့် တန်ခိုးဗျာဒိတ်ကိုးပါးကို ရည်ညွှန်းတော်မူဟန်တူသည်။

ထင်ရှားသော သက်သေသာဓကဟူသည် အဆိုပါ တန်ခိုးဗျာဒိတ်ကိုးပါးတွင် အထင်ရှားဆုံးဖြစ်သော 'အဆွာ' တောင်ဝှေးကို ရည်ညွှန်းတော်မူဟန်တူသည်။ သို့မဟုတ် ဖစ်ရ်အောင်န်၏ ရှေ့မှောက်တွင် အလ္လာဟ် အရှင်မြတ် တပါးတည်းရှိတော်မူသည့်အကြောင်းနှင့် စပ်လျဉ်း၍ တမန်တော်မူစာ တင်ပြခဲ့သည့် ထင်ရှားလှသည့် အကြောင်းပြချက်ကို ရည်ညွှန်းတော်မူဟန်တူသည်။ သို့တည်းမဟုတ် (سُلْطَانٍ مُّبِينٍ) ဟူသောပုဒ်သည် မူလ အဘိဓာန် အနက်ဖြစ်သည်။ 'ထင်ရှားသော လွှမ်းမိုးမှု' ဟူသော အနက်၌ပင် ဖြစ်ဟန်တူသည်။ အဘယ် ကြောင့်ဆိုသော် တမန်တော် မူစာသည် ဖစ်ရ်အောင်န်နှင့် ပြိုင်ဆိုင်ရာတွင် အကြိမ်ကြိမ် အောင်မြင်တော် မူခဲ့ပေသည်။

② တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)သည် ဖစ်ရ်အောင်န်နှင့်တကွ ဖစ်ရ်အောင်န်၏ အကြီးအကဲတို့အား သဘာဝကျသော ယုတ္တိဒဋ္ဌီ၊ အာဂမဒဋ္ဌီ နှစ်လီသော အထောက်အထားများနှင့်ပြည့်စုံသော၊ နှစ်ဘဝလုံး၏ အကျိုးဖြစ်ထွန်းစေနိုင်သော၊ လူသားတိုင်း လက်ခံနာယူနိုင်သော၊ မှန်ကန်သော၊ တရားသော၊ လက်တွေ့ အကျိုးရှိသော၊ တရားဒေသနာတော်များကို ဟောကြားခဲ့၏။ မိမိမှန်ကန်ကြောင်း အလ္လာဟ်အရှင်မြတ်၏ တမန်တော် အစစ်အမှန်ဖြစ်ကြောင်းနှင့်စပ်လျဉ်း၍ ထင်ရှားသော တန်ခိုးဗျာဒိတ်များကိုလည်း ပြသခဲ့၏။ မိမိဟောကြားသော တရားဒေသနာများကိုလည်း မိမိကိုယ်တိုင် လက်တွေ့ကျင့်သုံးပြသခဲ့၏။ လူသားတို့၏ နှစ်ဘဝအကျိုးကို အမှန်တကယ်သည်ပိုးသည့် တမန်တော်တစ်ပါးဖြစ်ခဲ့၏။ သူတော်စင် ပီသဘိ၏။

**၉၈။** ယင်းဖစ်ရ်အောင်န်သည် 'ကိယာမတ်' ရှင်ပြန်ထမည့်နေ့တွင် *မိမိအမျိုးသားတို့အား ရှေ့ဆောင်ပေမည်။* [1] ထို့နောက် ၎င်းသည် ယင်းအမျိုးသားတို့အား ငရဲဘုံ၌ စခန်းချစေမည်ဖြစ်၏။ အမှန်သော်ကား (၎င်းတို့) စခန်းချစေခြင်း ခံကြရမည့်နေရာသည် အလွန် ဆိုးရွားလှပေသည်တကား။

يَقْدُمُ قَوْمَهُۥ يَوْمَ ٱلْقِيَٰمَةِ فَأَوْرَدَهُمُ ٱلنَّارَ ۖ وَبِئْسَ ٱلْوِرْدُ ٱلْمَوْرُودُ ﴿٩٨﴾

**၉၉။** ထို့ပြင် ယင်းသူတို့သည် ဤပစ္စက္ခမျက်မှောက်ဘဝ၌လည်းကောင်း၊ 'ကိယာမတ်'ရှင်ပြန်ထမည့် နေ့တွင်လည်းကောင်း၊ ကရုဏာတော်မှကင်းဝေးစေခြင်းကို (မိမိတို့)နောက်မှ ထပ်ကြပ်မကွာလိုက်စေခြင်းကို ခံခဲ့ကြရလေသည်။ (၎င်းတို့) ချီးမြှင့်ခြင်းခံကြရမည့် မေတ္တာလက်ဆောင်သည် အလွန် ဆိုးရွားလှသော မေတ္တာလက်ဆောင်ပင် ဖြစ်ပေသည်တကား။ [2]

وَأُتْبِعُوا۟ فِى هَٰذِهِۦ لَعْنَةً وَيَوْمَ ٱلْقِيَٰمَةِ ۚ بِئْسَ ٱلرِّفْدُ ٱلْمَرْفُودُ ﴿٩٩﴾

---

(၁) ဖစ်ရ်အောင်န်သည် ဤပစ္စက္ခဘဝ၌ မိမိ၏နောက်လိုက်ငယ်သားများအား တရားဒေသနာတော်များကို သွေဖည်ငြင်းဆန်ရာတွင် ရှေ့ဆောင်သကဲ့သို့ နောင်တမလွန်ဘဝ ကိယာမတ်နေ့တွင် မိမိ၏နောက်လိုက်ငယ်သားတို့အား ဂျဟန္နမ်ငရဲသို့ လားရာ၌လည်း ရှေ့ဆောင်ပေမည်။ ဤပစ္စက္ခဘဝတွင် ဖစ်ရ်အောင်န်၏ တပည့်နောက်လိုက်များသည် ဖစ်ရ်အောင်န်၏ နောက်လိုက်များ ဖြစ်သကဲ့သို့ ကိယာမတ်နေ့တွင် ဂျဟန္နမ်လားရာ၌လည်း ဖစ်ရ်အောင်န်၏ နောက်လိုက်များပင်ဖြစ်ကြပေမည်။

'ဝစ်ရ်ဒ်'ဟူသော ပုဒ်၏မူရင်းအနက်မှာ ရေဆိပ်ဟူ၍ဖြစ်သည်။ ဤအာယတ်တော်တွင် ရေကြည်၊ ရေအေးမရှိ မီးအတိရှိမည့် မီးဘုံငရဲဘုံကို ရေဆိပ်ဟု သုံးနှုန်းထားတော်မူခြင်းမှာ စက်ဆုပ်ရွံ့ရှာသည့်သဘောဖြင့် သုံးနှုန်းထားတော်မူခြင်းပင်ဖြစ်သည်။ ယခုခေတ် လူဆိုးလူပေများ ချုပ်နှောင်ထားရာ အကျဉ်းထောင်ကို 'ထောင်နန်း' ဟူ၍ လည်းကောင်း၊ ထောင်ကျသည်ကို 'ထောင်နန်းစံသည်' ဟူ၍လည်းကောင်း သုံးနှုန်းထားသည့် သဘောမျိုးပင် ဖြစ်ပေသည်။

(၂) ကမ္ဘာသူကမ္ဘာသားတို့သည် ဤကမ္ဘာကြီး တည်ရှိသမျှကာလပတ်လုံး ဖစ်ရ်အောင်န်နှင့်တကွ ၎င်း၏ နောက်လိုက်များကို ကျိန်ဆဲကြမည်ဖြစ်သည်။ ထိုနောက်တဖန် နောင်တမလွန်ဘဝတွင် ကောင်းကင်တမန်များနှင့် မဟ်ရှရ်ကွင်းပြင်၌ စုရုံးခြင်းခံကြရမည့် သတ္တဝါအပေါင်းတို့ကလည်း ၎င်းတို့အား ကျိန်ဆဲကြဦးမည်ဖြစ်သည်။ ဤသို့အားဖြင့် ဖစ်ရ်အောင်န်နှင့် ၎င်း၏ နောက်လိုက်များသည် နှစ်ဘဝလုံး၌ပင် ကျိန်ဆဲခြင်း ခံကြရမည်ဖြစ်သည်။ ဤသည် တနည်းအားဖြင့် ၎င်းတို့၏သွေဖည်ငြင်းဆန်မှု၊ ဆိုးသွမ်းမိုက်မဲမှုများ၏အစား ၎င်းတို့ချီးမြှင့်ခြင်း ခံကြရသည့် ဆိုးရွားလှသော လက်ဆောင်ပဏ္ဏာပင်ဖြစ်ချေသည်။

ذٰلِكَ مِنْ اَنْۢبَآءِ الْقُرٰى نَقُصُّهٗ عَلَيْكَ مِنْهَا قَآئِمٌ وَّحَصِيْدٌ ﴿۱۰۰﴾

၁၀၀။ ဤကား အကြင်မြို့ရွာများ၏ အချို့သတင်းစကားပင်။ ငါအရှင်မြတ်သည် ထိုသတင်းစကားကို အသင်၏ရှေ့ဝယ်ပြန်၍ ပြောကြားတော်မူ၏။ ထိုမြို့ရွာများအနက် အချို့မှာ (ယနေ့တိုင်အောင်) တည်ရှိနေ၍ (အချို့မြို့ရွာများမှာမူကား) ပျက်ပြုန်းခဲ့လေသတည်း။ [၁]

وَمَا ظَلَمْنٰهُمْ وَلٰكِنْ ظَلَمُوْٓا اَنْفُسَهُمْ فَمَآ اَغْنَتْ عَنْهُمْ اٰلِهَتُهُمُ الَّتِيْ يَدْعُوْنَ مِنْ دُوْنِ اللّٰهِ مِنْ شَيْءٍ لَّمَّا جَآءَ اَمْرُ رَبِّكَ ۗ وَمَا زَادُوْهُمْ غَيْرَ تَتْبِيْبٍ ﴿۱۰۱﴾

၁၀၁။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ၎င်းတို့အား *နှိပ်စက်တော်မူခဲ့သည်မဟုတ်ပေ။* [၂] သို့ရာတွင် ၎င်းတို့ကိုယ်တိုင်ပင် (အလ္လာဟ်အရှင်မြတ်အားစွန့်၍ အခြားအရာများကို ဟစ်ခေါ်ခြင်းအားဖြင့်) မိမိတို့ကိုယ်ကို နှိပ်စက်ကလူ ပြုခဲ့ကြလေသည်။ သို့တစေလည်း အသင့်အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်၏အမိန့်တော် ရောက်ရှိလာသောအခါ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အားစွန့်၍ ဟစ်ခေါ်လေ့ရှိကြကုန်သော ၎င်းတို့၏ *ကိုးကွယ်ရာများသည် ၎င်းတို့အဖို့ အနည်းငယ် တစ်စုံတစ်ရာမျှပင် အသုံးမဝင် အကျိုးမပေးနိုင်ခဲ့ကြချေ။* [၃] ထိုမှတပါး ယင်းကိုးကွယ်ရာများသည် ၎င်းတို့၌ ပျက်စီးစေခြင်းမှတပါး အခြားတစ်စုံတစ်ရာမျှ တိုးပွားစေခဲ့ကြသည်လည်း မဟုတ်ပေတကား။

---

(၁) ဤအာယတ်တော်တွင် အတိတ်ခေတ်၌ အလ္လာဟ်အရှင်မြတ်၏ တမန်တော်မြတ်အား သွေးဖည်ငြင်းဆန်ရိုင်းပြစွာ ဆက်ဆံခဲ့ကြသည့်အတွက် တမန်တော်နူဟ်၏ အမျိုးသားများမှအစ၊ တမန်တော်မူစာ၏ အမျိုးသားများအဆုံး ပြစ်ဒဏ်တော် တပ်ရိုက်စီရင်ခြင်းခံခဲ့ရသော မြို့ရွာများအနက် မြို့ရွာနှစ်မျိုးနှစ်စားကို မိန့်ဆိုထားတော်မူသည်။ (က) အချို့မြို့ရွာများသည် ပြစ်ဒဏ်တော်သင့်၍ လုံးဝမြို့ရွာဒေသနှင့် ထိုမြို့ရွာဒေသရှိ သတ္တဝါအားလုံး ပျက်စီးယိုယွင်းသွားခဲ့လေသည်။ ဥပမာ–တမန်တော်လူတ်၏အမျိုးသားများ နေထိုင်ရာ မြို့ရွာများ၊ (ခ) အချို့မြို့ရွာမှာ ပြစ်ဒဏ်တော် တပ်ရိုက်စီရင်ခြင်း ခံခဲ့ရသည့်အတွက် ထိုမြို့ရွာဒေသတွင် နေထိုင်သူများသေကြေ ပျက်စီးသွားခဲ့ကြသော်လည်း ထိုမြို့ရွာဒေသများသည် ပျက်စီး၍ မသွားခဲ့ချေ။ တည်လျက်ပင်ရှိနေ၏။ ဥပမာ–အီဂျစ်ပြည်၊ အီဂျစ်ပြည်တွင် နေထိုင်ကြီးစိုးခဲ့သော ဖစ်ရ်အောင်န်နှင့် ၎င်း၏နောက်လိုက်များသည် ပြစ်ဒဏ်တော်သင့်၍ သေကြေပျက်စီးသွားခဲ့သော်လည်း အီဂျစ်ပြည်သည် တည်လျက်ပင် ရှိနေ၏။ မာဂျိဒီ။

وَكَذٰلِكَ اَخۡذُ رَبِّكَ اِذَاۤ اَخَذَ الۡقُرٰى وَهِىَ ظَالِمَةٌ‌ ؕ اِنَّ اَخۡذَهٗۤ اَلِيۡمٌ شَدِيۡدٌ ﴿۱۰۲﴾

၁၀၂။ စင်စစ်သော်ကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် မြို့(သူ)(ရွာ)သားတို့အား ၎င်းတို့သည် နှိပ်စက်ကလူပြုလျက်ရှိနေကြစဉ် ဖမ်းဆီးအရေးယူတော်မူသောအခါ ဤနည်းအတိုင်းပင် ဖမ်းဆီး အရေးယူတော်မူလေ့ရှိ၏။ ဧကန်အမှန် ထိုအရှင်မြတ်၏ ဖမ်းဆီးအပြစ်ပေးမှုကား အလွန်ပြင်းပြနာကျင်ဖွယ် ဖြစ်လှပေသည်။ အလွန်ပြင်းထန်လှပေသတည်း။

---

(၂) အတိတ်ခေတ်တွင် အချို့အမျိုးသားများသည် ပြစ်ဒဏ်တော် တပ်ရိုက်စီရင်ခြင်း ခံခဲ့ရပြီး ပျက်စီးသွားခဲ့ကြလေသည်။ ယင်းသို့ ပျက်စီးသွားခဲ့ခြင်းမှာ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ မတရားနှိပ်စက်ကလူပြုတော်မူခြင်း အလျင်းမဟုတ်၊ ထိုအရှင်မြတ်သည် ကရုဏာတော်ရှင် ဖြစ်တော်မူသည်။ ထိုအရှင်မြတ်၏ စီရင်တော်မူခြင်းမှာ အလွန်တရာမျှ တရားမျှတသည်။ စီရင်တော်မူရာတွင်လည်း ကရုဏာတော်ကို အမြဲတစေ ရှေ့ရှုတော်မူသည်။ ထိုအရှင်မြတ်သည် လူမျိုးအသီးသီးတို့ထံသို့ နဗီတမန်တော်များကို စေလွှတ်တော်မူ၍ တရားဓမ္မ ဟောကြားစေတော်မူခဲ့၏။ တရားမှုနှင့် မတရားမှု၊ အမှန်နှင့်အမှား၊ အလင်းနှင့်အမှောင်၊ အကောင်းနှင့်အဆိုး၊ သုခ၏ လမ်းစဉ်နှင့် ဒုက္ခ၏လမ်းစဉ်၊ ဂျန္နတ်၏ လမ်းစဉ်နှင့် ဂျဟန္နမ်၏ လမ်းစဉ်များကို အတိအကျကျိုးကြောင်းပြ၍ ဟောညွှန်စေတော်မူခဲ့၏။ ယင်းသို့ ဟောကြားစေတော်မူပြီးနောက်ပိုင်းတွင်လည်း ပြစ်မှုကျူးလွန်သူတို့အား ရုတ်တရက် ချက်ချင်းအရေးယူတော် မမူသေးပေ။ ကရုဏာတော် အဟုန်ဖြင့် အကြိမ်ကြိမ်ခွင့်လွှတ်တော်မူသေးသည်။ ယင်းအကြိမ်ကြိမ် ခွင့်လွှတ်တော်မူပါလျက် အကယ်၍ လူမျိုးတစ်မျိုးသည် အမှန်တရားများကို လုံးဝသွေဖည်ကျောခိုင်းကာ အမှားကိုပင် ဇွတ်မိုက်၍ ပြုကျင့်နေသည်ရှိသော် စည်းကမ်းလွန်လာသော် ယင်းသို့သော် လူမျိုးများကိုမူကား ထိုအရှင်မြတ်သည် အပြစ်ရှိသည့်အားလျော်စွာ တိကျပြတ်သားစွာ ပြစ်ဒဏ်တော် တပ်ရိုက်စီရင်တော်မူလေသည်။ အပြစ်ရှိသူအား အပြစ်ရှိသည့်အားလျော်စွာ ပြစ်ဒဏ်ပေးခြင်းသည် နှိပ်စက်ခြင်းမဟုတ် တရားမျှတစွာဆောင်ရွက်ခြင်းသာဖြစ်သည်။ ပြစ်မှုထင်ရှားသည့်အတွက် ကြိုးမိန့်ပေးသော တရားသူကြီးအား နှိပ်စက်သူဟူ၍အသူ ဆိုနိုင်အံ့နည်း။ တရားမျှတစွာ စီရင်သည့်အတွက် ချီးမွမ်းရမည်သာဖြစ်သည် မဟုတ်ပါလော။

(၃) အတိတ်ခေတ် ပြစ်ဒဏ်တော်သင့်၍ ပျက်စီးယိုယွင်းသွားခဲ့ကြသော ကာဖိရ်များသည် အလ္လာဟ်အရှင်မြတ်အား စွန့်ပယ်၍ အဓိပ္ပာယ်မရှိသော အချည်းနှီးသောအရာများကို ဘုရားအမှတ် ဆည်းကပ် ကိုးကွယ်ခဲ့ကြ၏။ ထိုကိုးကွယ်ရာများသည် ၎င်းတို့အား အကျိုးပြုနိုင်သည်။ ဒုက္ခဖြစ်စေနိုင်သည်ဟု မှတ်ယူခဲ့ကြ၏။ သို့ရာတွင် ယင်းကာဖိရ်များ ဘေးအန္တရာယ်များနှင့် တွေ့ကြုံကြသောအခါ ယင်းကိုးကွယ်ရာများသည် ၎င်းတို့အား အနည်းငယ်စိုးစဉ်းမျှပင် အကျိုးမပြုနိုင်ခဲ့ပေ။ 'ထောင်မှူး မ လို့ ထောင်ကျ' ဆိုသကဲ့သို့ ယင်းကိုးကွယ်ရာများသည် အကျိုးပြုနိုင်ရန် ဝေးစွ၊ ဒုက္ခဖြစ်ရန် အကြောင်းပင်ဖြစ်လာခဲ့ပေသည်။

إِنَّ فِى ذَٰلِكَ لَءَايَةً لِّمَنْ خَافَ عَذَابَ ٱلْءَاخِرَةِ ۚ ذَٰلِكَ يَوْمٌ مَّجْمُوعٌ لَّهُ ٱلنَّاسُ وَذَٰلِكَ يَوْمٌ مَّشْهُودٌ ﴿١٠٣﴾

၁၀၃။ ကေန်မလွဲ ဤသည့်(အဖြစ်အပျက်)တို့တွင် နောင်တမလွန်ဘဝ၏ ပြစ်ဒဏ်ကို ကြောက်ရွံ့စိုးရိမ်သောသူတို့အဖို့ အမှန်ပင် သက်သေလက္ခဏာရှိပေသည်။ ထိုနေ့သည်ကား လူခပ်သိမ်းတို့ စုရုံးခြင်းခံကြရပေမည်။ ထိုနေ့သည်ကား (လူခပ်သိမ်းတို့သည် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင်) အသင့်ရောက်ရှိစေခြင်းခံကြရမည့်နေ့ပင်ဖြစ်ချေသတည်း။ ၁

وَمَا نُؤَخِّرُهُۥٓ إِلَّا لِأَجَلٍ مَّعْدُودٍ ﴿١٠٤﴾

၁၀၄။ စင်စစ်မူကား ငါအရှင်မြတ်သည် ထိုနေ့ရက်ကို ရေတွက်ပြီးဖြစ်သောအချိန်ကာလတိုင်မျှသာလျှင် ရွှေ့ဆိုင်းထားတော်မူလေသည်။ ၂

---

(၁) ဆိုလိုကား ဤပစ္စက္ခဘဝသည် အကျင့်သီလဆောက်တည်ရာ ဌာနသည်သာဖြစ်သည်။ ကျိုးပြစ်စီရင်ရာဌာနမဟုတ်သေးပေ။ ဤအကျင့်သီလ ဆောက်တည်ရာဌာန၌ပင် ကုဖ်ရ်၊ ရှရစ်က်နှင့် တမန်တော်များအား သွေဖည်ငြင်းဆန် မနာခံကြသည့်အတွက် ဤမျှပြင်းထန်သော ပြစ်ဒဏ်ကို ခံစားနေကြရသည်ဖြစ်ရာ ကျိုးပြစ်စီရင်ရာဌာန သက်သက်မျှဖြစ်သော နောင်တမလွန်တွင်ကား အတိုင်းမသိ ပြစ်ဒဏ်များကို မုချခံစားကြရမည်မဟုတ်ပါလော။ ဤပစ္စက္ခဘဝ၌ပင် ပြစ်ဒဏ်မှ မလွတ်ကင်းနိုင်လျှင် နောင်တမလွန်ဘဝတွင်ကား အသို့လျှင် လွတ်ကင်းနိုင်ကြအံ့နည်း။

ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာ့အဝန်း၏အဆုံးအဖြတ်ကို တချိန်တွင် တရက်တည်းတွင် ပေးတော်မူမည်ဖြစ်သည်။ ထိုနေ့တွင် ကမ္ဘာသူကမ္ဘာသား အားလုံးတို့သည် တစ်ယောက်မကျန် (စုရုံးခြင်းမခံရဘဲ) လွတ်မြောက်နေမည်မဟုတ်၊ ထိုနေ့သည် ကမ္ဘာအဝန်းနှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ် စီရင်ဆုံးဖြတ်တော်မူ၍ ကျိုးပြစ်ပေးတော်မူမည့် အကြီးဆုံးနေ့ပင်ဖြစ်သည်။ ထို့အတွက် နောင်တမလွန်ဘဝ၏ ပြစ်ဒဏ်ကို ကြိုတင်မြော်မြင်၍ စိုးရိမ်ကြောက်ရွံ့သော ပုဂ္ဂိုလ်များအဖို့ ဤသည့်အချက်တွင် အကြီးအကျယ် နောင်တရဖွယ်ရှိပေသည်ဟု မိန့်ဆိုထားတော်မူခြင်း ဖြစ်သည်။

(၂) စင်စစ်မှာမူကား ငါအရှင်မြတ်သည် ထိုနေ့ရက်ကို သတ်မှတ်ထားပြီးဖြစ်သော ကတိတစ်ခုအတွက်ကြောင့်သာလျှင် ရွှေ့ဆိုင်းထားတော်မူသည်။ (ရှိုင်ခုလ်ဟင်န်ဒ်)

အမှန်မှာ ငါအရှင်မြတ်သည် ထိုနေ့ရက်ကို ရေတွက်ထားသော အချိန်တစ်ခုတည်းအတွက်ကြောင့်သာလျှင် ရွှေ့ဆိုင်းထားတော်မူသည်။ (မာဂျိဒီ)

အမှန်မှာ ငါအရှင်မြတ်သည် ထိုနေ့ရက်ကို အချိန်အနည်းငယ်အတွက်သာ ရွှေ့ဆိုင်းထားတော်မူသည်။ (ထာနဝီ)

အလ္လာဟ်အရှင်မြတ်၏ သဗ္ဗညုတဉာဏ်တော်၌ အစစအရာရာအတွက် အချိန်သည် သတ်မှတ်ပြီးဖြစ်သည်။ ကိယာမတ်အတွက် အချိန်လည်းသတ်မှတ်ပြီး ဖြစ်သည်။ အချိန်ကျရောက်လာသည့်အခါ ➤➤

يَوۡمَ يَأۡتِ لَا تَكَلَّمُ نَفۡسٌ إِلَّا بِإِذۡنِهِۦۚ فَمِنۡهُمۡ شَقِيّٞ وَسَعِيدٞ ١٠٥

၁၀၅။ ထိုနေ့သည် ဆိုက်ရောက် လာသောအခါ ထိုအရှင်မြတ်၏ ခွင့်ပြုချက်မရဘဲ မည်သူတစ်ဦး တစ်ယောက်မျှပင်စကားပြောဆိုနိုင်မည်မဟုတ်ပေ။ ၁ တဖန် ထိုသူတို့အနက်အချို့မှာ အကြောင်းမလှသူ များ ဖြစ်ကြပေအံ့၊ အချို့မှာမူကား အကြောင်းလှသူ များပင် ဖြစ်ကြလတ္တံ့။ ၂

فَأَمَّا ٱلَّذِينَ شَقُواْ فَفِي ٱلنَّارِ لَهُمۡ فِيهَا زَفِيرٞ وَشَهِيقٌ ١٠٦

၁၀၆။ သို့ဖြစ်ပေရာ အကြောင်းမရှိလှသော သူတို့ သည် ဂျဟန္နမ်ငရဲဘုံ၌ ရှိကြပေမည်။ ၎င်းတို့၌ ထိုဂျဟန္နမ်ဘုံတွင် ဟစ်အော်ခြင်းနှင့် ညည်းတွားခြင်း များပင် ရှိကြပေမည်။ ၃

---

➤➤ မုချကိယာမတ်ဖြစ်သည်။ ကြံ့ကြာမှုကို အကြောင်းပြုပြီး ဤသည် အတွေးအထင်မျှသာဖြစ်သည်'ဟူ၍ အလျင်းမထင်မှတ်ရာ။ အချိန်ကျလျှင် ဆိုက်ရောက်မည်ကား မလွဲဧကန်တည်း။

(၁) ကိယာမတ်နေ့ ဆိုက်ရောက်လာသည့်အခါ ထိုနေ့တွင် အလ္လာဟ်အရှင်မြတ်၏ ခွင့်ပြုချက်မရရှိဘဲ မည်သူ တစ်ဦးတစ်ယောက်မျှ စကားပြောဆိုနိုင်မည် မဟုတ်ပေ။ ဤသည့်သဘောကို ကုရ်အာန် (၇၈:၃၈) တွင်လည်း ( لَا يَتَكَلَّمُونَ إِلَّا مَنۡ أَذِنَ لَهُ ٱلرَّحۡمَٰنُ ) ဟူ၍ မိန့်ဆိုထားတော်မူသည်။

ကုရ်အာန် (၁၆:၁၁၁)တွင် "ကိယာမတ်နေ့တွင် လူတိုင်း လူတိုင်းသည် မိမိကိုယ်၌ ပတ်သက်၍ ငြင်းခုံပြောဆိုမည်" ဟူ၍ လာရှိ၏။ ကုရ်အာန် (၇၇:၃၅-၃၆)တွင်မူ "ဤနေ့တွင် လူသားတို့သည် စကား ပြောဆိုနိုင်ကြမည်မဟုတ်။ ၎င်းပြင် ၎င်းတို့ လွတ်ငြိမ်းချမ်းသာခွင့် လျှောက်ထားနိုင်ကြရန်အတွက် ၎င်းတို့အား ခွင့်ပြုတော်မူမည်လည်း မဟုတ်" ဟူ၍လာရှိ၏။ ဤအာယတ်တော် ၂-ပါးသည် အမြင်အားဖြင့် အချင်းချင်း ဆန့်ကျင်နေသည်ဟု ထင်မှတ်ဖွယ်ရာ ဖြစ်သည်။

လင်းပြဦးအံ့။ ဤအာယတ်တော် ၂-ပါးသည် အချင်းချင်း ဆန့်ကျင်သည်မဟုတ်၊ အဘယ်ကြောင့် ဆိုသော် ကိယာမတ်နေ့သည် အလွန်တရာမျှ ရှည်လျားမည့်နေ့ဖြစ်သည်။ ထိုနေ့တွင် နေရာဌာန အမြောက်အမြား ရှိပေမည်။ အချို့နေရာများတွင် လူသားတို့သည် မိမိကိုယ်များနှင့်ပတ်သက်၍ ငြင်းခုံပြောဆိုကြပေမည်။ အချို့နေရာများတွင် စကား ပြောဆိုခွင့်ပင် ရရှိကြမည်မဟုတ်ပေ။ အချို့နေရာများတွင် စကားပြောဆိုခွင့် ရရှိကြပေမည်။

အချို့နေရာများတွင် နှုတ်လျှာများအပေါ်၌ တံဆိပ်ခတ်နှိပ်ထားတော်မူမည်ဖြစ်သည်။ ၎င်းတို့၏ ခြေလက်များက သက်သေခံကြမည်ဖြစ်သည် ဟူ၏။

(၂) ဤအာယတ်တော်တွင်ပါရှိသည့် 'မင်န်ဟွမ်' ဟူသောပုဒ်၌ ပါရှိသော 'ဟွန်မ်' ထိုသူများ 'ဟူသောနာမ်စားသည်' 'မဟ်ရှ်ရ်' ကွင်းပြင်ရှိ ကမ္ဘာသူ ကမ္ဘာသားတို့အား ရည်ညွှန်းသည်။

'ရှကီ' ဟူသည် အကြင်သူတည်း၊ ၎င်းတို့အဖို့ ၎င်း၏မကောင်းမှုကြောင့် ငရဲသည် အတည်ဖြစ်၏။ 'စအီဒ်' ဟူသည် အကြင်သူတည်း၊ ၎င်းတို့အဖို့ ၎င်း၏ကောင်းမှုကြောင့် ဂျန္နတ်သည် အတည်ဖြစ်၏။ ➤➤

خَٰلِدِينَ فِيهَا مَا دَامَتِ
ٱلسَّمَٰوَٰتُ وَٱلْأَرْضُ إِلَّا مَا شَآءَ
رَبُّكَ ۚ إِنَّ رَبَّكَ فَعَّالٌ لِّمَا
يُرِيدُ ١٠٧

**၁၀၇။** (၎င်းတို့သည်) မိုးကောင်းကင်များနှင့် ပထဝီမြေတည်နေသမျှကာလပတ်လုံး ထိုငရဲဘုံတွင် အသင်၏အရှင်မြတ် အလိုရှိတော်မူသည်မှတပါး *ထာဝစဉ်နေထိုင်သူများအဖြစ် ရှိကြပေမည်။* [၁] ဧကန်စင်စစ် အသင်၏အရှင်မြတ်သည် မိမိကြံရွယ်တော်မူသောကိစ္စကို အပြီးအစီး ပြုလုပ်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَأَمَّا ٱلَّذِينَ سُعِدُوا۟ فَفِى ٱلْجَنَّةِ
خَٰلِدِينَ فِيهَا مَا دَامَتِ ٱلسَّمَٰوَٰتُ
وَٱلْأَرْضُ إِلَّا مَا شَآءَ رَبُّكَ ۖ
عَطَآءً غَيْرَ مَجْذُوذٍ ١٠٨

**၁၀၈။** သို့ရာတွင် အကြောင်းလှသောသူတို့မှာမူကား ဂျန္နတ် အမတသုခဘုံ၌ ရှိကြပေမည်။ (၎င်းတို့သည်) မိုးကောင်းကင်များနှင့်ပထဝီမြေသည် တည်ရှိနေသမျှကာလပတ်လုံး ထိုဂျန္နတ်အမတသုခဘုံတွင် အသင်၏အရှင်မြတ် အလိုတော်ရှိတော်မူခဲ့သည်မှတပါး ထာဝစဉ် နေထိုင်သူများအဖြစ် စံမြန်းကြပေမည်။ (ဤဆုကျေးဇူး) ချီးမြှင့်တော်မူခြင်းကား အဆက်မပြတ် ချီးမြှင့်တော်မူခြင်းပင်တည်း။

---

(၃) 'ဇဖီရ်' နှင့် 'ရှဟီက်' ဟူသော ပုဒ်များသည် မြည်း မြည်သံများကိုဆိုသည်။ မြည်း မြည်ရာတွင် ပထမအစတွင် ထွက်ပေါ်လာသည့်အသံကို 'ဇဖီရ်' ဟူ၍ခေါ်သည်။ နောက်ဆုံးထွက်ပေါ်လာသည့် အသံကိုမူ 'ရှဟီက်' ဟူ၍ခေါ်သည်။

မြည်း၏အသံသည် အသံများတွင် စက်ဆုပ်ရွံ့ရှာဖွယ် အကောင်းဆုံးသော အဆိုးရွားဆုံးသော အသံပင် ဖြစ်သည်။ ကုရ်အာန် (၃၁း၁၉)တွင် 'မုချဧကန် အသံများအနက် အဆိုးရွားဆုံးသော အသံသည် မုချ မြည်းများ၏ မြည်သံပင်ဖြစ်သည်'ဟု မိန့်ဆိုထားတော်မူသည်။

ဆိုလိုသည်ကား ငရဲတွင် ငရဲသားများသည် အလွန်ဆိုးရွားသော အသံဆိုးများဖြင့် အမြဲတစေ အော်ဟစ်ငိုကြွေး မြည်တမ်း၍ နေကြမည်။ ညည်းတွားကြမည်။ သက်မ ချကြမည်ဟူ၏။

(၁) ဤအာယတ်တော်၏ အလိုသဘောမှာ နှစ်မျိုးနှစ်စားဖြစ်နိုင်သည်။

(၁) ဤပစ္စက္ခဘဝ၏ မိုးများနှင့် မြေတည်ရှိနေသမျှသော အချိန်ကာလနှင့်အမျှ အကြောင်းမလှသော 'ရှကီ' သူယုတ်မာများသည် ဤငရဲတွင်လည်းကောင်း၊ ကံကောင်းအကြောင်းလှသော 'စအီဒ်' သူတော်စင်များသည် ဂျန္နတ်တွင်လည်းကောင်း၊ နေထိုင်ကြရမည်ဖြစ်သည်။ သို့ရာတွင် ထိုအချိန်ကာလထက်ပင် ပိုမို၍ အသင်၏အရှင် အလိုတော်ရှိတော်မူသော ထိုပိုမိုသောအချိန်ကိုမူ ထိုအရှင်မြတ်သာလျှင် သိတော်မူသည်။ အဘယ်ကြောင့်ဆိုသော် ကျွန်ုပ်သည် အရှည်လျားဆုံးသော အချိန်ကာလကို တွေးတောကြသည့်အခါ မိမိတို့၏ ပတ်ဝန်းကျင်အခြေအနေအရ အရှည်လျားဆုံးသောအချိန်မှာ မိုးမြေတည်ရှိနေသမျှသော အချိန်ကာလ ➤➤

➤➤ ဖြစ်သည်ကိုသာ တွေးတောၡ ရရှိပေသည်။ ထို့အတွက်ကြောင့်လည်း 'မိုးများနှင့်မြေ တည်ရှိနေသမျှ ကာလပတ်လုံး' စသည့် အသုံးအနှုန်းများသည် အရဗီစာပေတွင် အမြဲထာဝရဟူသော အနက်များ၌ သုံးလေ့သုံးထ ရှိကြပေသည်။ အမြဲထာဝရဟူသော စကား၏ ရည်ညွှန်းရာ ပမာဏအချိန်ကာလ အပိုင်းအခြားကို အစအဆုံးမရှိသော အသင်္ချေ အသင်္ချာဖြစ်သော အချိန်ကာလဟူ၍ပင် ခေါ်ဆိုသင့်ပေသည်။ ထိုသည့် အစအဆုံးမရှိသော အသင်္ချေ အသင်္ချာဖြစ်သော အချိန်ကာလကိုမူ သဗ္ဗညုတဉာဏ်တော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်သာ သိတော်မူနိုင်ပေသည်။ ထိုသည့် အစအဆုံးမရှိသော အသင်္ချေ အသင်္ချာဖြစ်သော အချိန်ကာလ ခေတ်အခါသမယကို 'အသင်၏အရှင် အလိုတော်ရှိတော်မူသောအရာ' ဟူ၍ သုံးနှုန်းထားတော်မူသည်။

(၂) ဤအာယတ်တော်၏ ဒုတိယအလိုသဘောမှာ 'မိုးများနှင့်မြေ တည်ရှိနေသမျှ ကာလပတ်လုံး' ဟူသော အသုံးအနှုန်းသည် အမြဲထာဝရ အချိန်ကာလအတွက် တင်စား၍ သုံးနှုန်းထားတော်မူသည်ဟူ၍လည်း ယူဆနိုင်သည်။ သို့တည်းမဟုတ် ဤအာယတ်တော်တွင်ပါရှိသည့် မိုးများနှင့်မြေဟူသည် ဤပစ္စက္ခဘဝရှိ မိုးများနှင့်မြေကိုဆိုလိုသည် မဟုတ်၊ နောင်တမလွန်ဘဝ၏ မိုးများနှင့်မြေကိုသာဆိုလိုသည်ဟူ၍လည်း ယူဆနိုင်ပေသည်။ အဘယ်ကြောင့်ဆိုသော် ကိယာမတ်နေ့တွင် ဤပစ္စက္ခဘဝရှိမိုးမြေများကို အခြားမိုးမြေများနှင့်ပြောင်းလဲတော်မူမည့်အကြောင်း ကုရ်အာန်ကျမ်းမြတ်(၁၄း၄၈)တွင် ( يَوْمَ تُبَدَّلُ الْأَرْضُ غَيْرَ الْأَرْضِ وَالسَّمٰوٰتُ ) ဟူ၍ပါရှိလေသည်။ ဆိုလိုသည်ကား ကံမကောင်း အကြောင်းမလှသော 'ရှကီ' သူယုတ်တို့သည် ငရဲတွင်လည်းကောင်း၊ ကံကောင်းအကြောင်းလှသော 'စအီဒ်' သူတော်စင်များသည် ဂျန္နတ်တွင်လည်းကောင်း၊ နောင်တမလွန်ဘဝ၏ မိုးမြေတည်ရှိနေသမျှ ကာလပတ်လုံး (ဝါ) အမြဲထာဝရ နေထိုင်ကြရမည်ဖြစ်သည်။ သို့ရာတွင် အသင်၏အရှင် အလိုတော်ရှိက အမြဲထာဝရ နေထိုင်ခွင့်ပြုတော်မူမည် မဟုတ်ဘဲ ရပ်စဲပစ်တော်မူမည်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ဂျန္နတ်သားများနှင့် ငရဲသားများ၏ အမြဲထာဝရနေထိုင်မှုသည်လည်း ထိုအရှင်မြတ်၏ အလိုတော်အတိုင်းသာလျှင် ဖြစ်ပေသည်။ သို့ရာတွင် ထိုအရှင်မြတ်သည် ကာဖိရ်မုရှ်ရစ်ကတို့၏ ပြစ်ဒဏ်နှင့် ဂျန္နတ်သားများ၏ ကုသိုလ်အကျိုးများကို အဘယ်သောအခါ၌မျှ ရပ်ဆိုင်းတော်မူမည် မဟုတ်သည်ကိုကား လိုလားတော်မူပြီး ဖြစ်ပေသည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၂း၁၆၇)တွင် 'ထိုကာဖိရ်များသည် ငရဲမီးဘေးမှ ထွက်လိုကြသည်။ သို့ရာတွင် ၎င်းတို့သည် ထိုငရဲမီးဘေးမှ မည်သည့်အခါ၌မျှ ထွက်နိုင်ကြမည် မဟုတ်၊ ထို့ပြင် အသို့တည်ရှိနေမည်ဖြစ်သော ပြစ်ဒဏ်သည် အမြဲရှိပေမည်' ဟူ၍လည်းကောင်း၊ ကုရ်အာန် (၂း၁၆၂)တွင် 'ထိုကာဖိရ်များသည် ငရဲမီးဘေးမှ မည်သည့်အခါ၌မျှ ထွက်ကြရမည်မဟုတ်' ဟူ၍လည်းကောင်း ကုရ်အာန်(၅း၇၃)တွင် 'ထိုကာဖိရ်များထံမှ အပြစ်ဒဏ်သည် ပေါ့ပါးသွားမည်လည်းမဟုတ်၊ ၎င်းပြင် ယင်းသူတို့သည် ဆိုင်းငံ့ခွင့်လည်း ရရှိကြမည်မဟုတ်' ဟူ၍လည်းကောင်း၊ ကုရ်အာန်(၄း၁၁၆)တွင် မုချ အလ္လာဟ်အရှင်မြတ်သည် မိမိနှင့်တွဲဖက်ယှဉ်ပြိုင် ကိုးကွယ်ခြင်းကို အလျှင်းချမ်းသာခွင့် ပေးတော်မူမည်မဟုတ်၊ သို့ရာတွင် ထိုအပြစ်မှတပါး အခြားအပြစ်များကိုမူ မိမိအလိုတော်ရှိတော်မူသော သူများအား ချမ်းသာခွင့်ပေးတော်မူမည်' ဟူ၍လည်းကောင်း အတိအလင်း မိန့်ဆိုထားတော်မူသည်။ ဤသည် အစ္စလာမ်သာသနာဝင်အပေါင်းတို့၏ 'ဣဂျ်မာအ်'ခေါ် တညီတညွတ်တည်းသော အဆုံးအဖြတ်ပင် ဖြစ်ပေသည်။

ဤသည့်အဆုံးအဖြတ်နှင့်ဆန့်ကျင်၍ ယခုခေတ် အချို့အမည်ခံ မုဖတ်စ်စစ်ရ်များ၏ ရေးသားချက်များသည် မခိုင်မာသော လုပ်ကြံဖန်တည်းထားသော 'ရိဝါယတ်' ကျမ်းချက်များ၊ သို့မဟုတ် အနက်အဓိပ္ပာယ်ကို တစ်မျိုးတစ်ဖုံ လှည့်ထားသည့် ထူးထွေဆန်းပြားသော အဆိုများသာဖြစ်ပေသည်။ သို့တည်းမဟုတ် ➤➤

فَلَا تَكُ فِي مِرْيَةٍ مِّمَّا يَعْبُدُ هَٰؤُلَاءِ ۚ مَا يَعْبُدُونَ إِلَّا كَمَا يَعْبُدُ آبَاؤُهُم مِّن قَبْلُ ۚ وَإِنَّا لَمُوَفُّوهُمْ نَصِيبَهُمْ غَيْرَ مَنقُوصٍ ﴿١٠٩﴾

၁၀၉။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် ဤသူများ ဆည်းကပ်ကိုးကွယ်သော အရာများနှင့်စပ်လျဉ်း၍ ဒွိဟသံသယ မဖြစ်ပါလေနှင့်၊ (စင်စစ်သော်ကား) ၎င်းတို့သည် မိမိတို့အဖ ဘိုးဘေးများအလျင်က ဆည်းကပ်ကိုးကွယ်လျက် ရှိခဲ့ကြသည့်နည်းတူ ကိုးကွယ်ဆည်းကပ်နေကြသည်ပင်။ ထို့ပြင် ဧကန်အမှန် ငါအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့၏ ဝေစုဝေပုံကို ယုတ်လျော့စေခြင်းမရှိစေဘဲ အပြည့်ပေးတော်မူမည် ဖြစ်ပေသတည်း။ ၁

➤➤ ၎င်းတို့သည် ကုရ်အာန်ကျမ်းမြတ်၏ အချို့ အာယတ်တော်များနှင့် တမန်တော်မြတ်၏ မှန်ကန်သော ဩဝါဒတော်များကို မိမိတို့၏ အတွေးအခေါ် အမြော်အမြင် နည်းပါးမှုတို့ကြောင့် အမှန်အတိုင်း နားမလည်ကြဘဲ အမှားမှား အယွင်းယွင်း အနက်အဓိပ္ပာယ် ကောက်ယူထားသော မမှန်ကန်သော စကားများသာ ဖြစ်ချေသည်။

① ဤကာဖိရ်၊ မုရှရစ်က်များသည် ကုဖ်ရ်၊ ရှရစ်က်တွင် နစ်မွန်းနေကြ၏။ ယင်းသို့ ကုဖ်ရ်၊ ရှရစ်က်တွင် နစ်မွန်းနေကြပါလျက် ယခုထက်တိုင် ပြစ်ဒဏ်တပ်ရိုက်ခြင်းကို မခံကြရသေးပေ။ ဤသည် ဒွိဟသံသယ ဖြစ်ဖွယ် မဟုတ်ပေ။ ဤကာဖိရ်၊ မုရှရစ်က်များသည် မိမိတို့၏ အဖ၊ ဘိုးဘေးတို့၏ ထုံးတမ်းစဉ်လာကို မျက်စိမှိတ်၍ လိုက်နာနေကြသူများသာ ဖြစ်ကြပေသည်။ ထိုအဖ၊ ဘိုးဘေးတို့အဖို့ ၎င်းတို့၏ ကိုးကွယ်ရာများသည် အသို့မျှ အသုံးမဝင်ခဲ့ပေရာ ဤကာဖိရ်၊ မုရှရစ်က်များအဖို့ မည်သို့လျှင် အသုံးဝင်အံ့နည်း။ ဤကာဖိရ်၊ မုရှရစ်က် အားလုံး တို့သည် နောင်တမလွန်ဘဝတွင် မိမိတို့၏ကုဖ်ရ်၊ ရှရစ်က် အပြစ်ဒဏ်များကို အပြည့်အဝ ခံကြရပေမည်။ အနည်းငယ်စိုးစဉ်းမျှ လျော့ပေါ့ခြင်း အလျင်းခံကြရမည်မဟုတ်ပေ။

(ဤကာဖိရ်၊ မုရှရစ်က်များသည်လည်း အတိတ်ခေတ် ကာဖိရ်၊ မုရှရစ်က်တို့၏ လမ်းစဉ်အတိုင်း ဖြစ်ကြရမည်မှာ အမှန်မုချပင်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ပြောင်းလဲခြင်း အလျင်းမရှိသော စွန္နတ်တော်တည်း။)

အချို့မုဖတ်စ်စစ်ရ်များက တစ်နည်း ဖွင့်ဆိုကြသည်မှာ ဤကာဖိရ်၊ မုရှရစ်က်တို့သည် ဤပစ္စက္ခဘဝတွင် ၎င်းတို့အဖို့ သတ်မှတ် လျာထားတော်မူပြီးဖြစ်သည့် စားနပ်ရိက္ခာစသည်များကို အပြည့်အဝ ရရှိကြပြီးနောက် ၎င်းတို့၏ ကုဖ်ရ်၊ ရှရစ်က်၏ ပြစ်ဒဏ်များကိုလည်း အပြည့်အဝ ခံစားကြရမည်ဟူ၏။

လွန်ခဲ့သည့် အာယတ်တော် (၁၁း၁၀၈)တွင် မွတ်စ်လင်မ် သူတော်စင်တို့၏ ကုသိုလ်အကျိုးနှင့် စပ်လျဉ်း၍ ( عَطَاءً غَيْرَ مَجْذُوذٍ ) ဟူ၍ သုံးနှုန်းထားတော်မူသည်။ ယခု ဤအာယတ်တော် (၁၁း၁၀၉)တွင် 'ကာဖိရ်၊ မုရှရစ်က်တို့၏ ပြစ်ဒဏ်နှင့်စပ်လျဉ်း၍ (غَيْرَ مَنقُوصٍ) ဟူ၍ သုံးနှုန်းထားတော်မူသည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် မွတ်စ်လင်မ်တို့ ခံစားကြရမည့် ကုသိုလ်အကျိုးနှင့် ကာဖိရ်၊ မုရှရစ်က်တို့ ခံစားကြရမည့် ပြစ်ဒဏ်မှာ အဘယ်မျှ ကွာခြားလျက်ရှိသည်ကို ဆင်ခြင်အပ်ပေသည်။

وَلَقَدْ اٰتَيْنَا مُوْسَى الْكِتٰبَ فَاخْتُلِفَ فِيْهِ ۗ وَلَوْلَا كَلِمَةٌ سَبَقَتْ مِنْ رَّبِّكَ لَقُضِيَ بَيْنَهُمْ ۗ وَاِنَّهُمْ لَفِيْ شَكٍّ مِّنْهُ مُرِيْبٍ ﴿١١٠﴾

**၁၁၀။** ထိုမှတပါး ‌ကေန်မလွဲ ငါအရှင်မြတ်သည် (နဗီတမန်တော်)မူစာအား ကျမ်းဂန်ကို ချီးမြှင့်ပေးသနားတော်မူခဲ့လေသည်။ သို့ရာတွင် ထိုကျမ်းဂန်နှင့်စပ်လျဉ်း၍(လည်း) အကွဲအလွဲ ဖြစ်ခဲ့ရလေသည်။ စင်စစ်သော်ကားအကယ်၍သာ အသင့်အားဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်မှ အမိန့်တော်တစ်ရပ်သည် မူလကပင် မရှိခဲ့ပါလျှင် ၎င်းတို့၏စပ်ကြားတွင် စီရင် ဆုံးဖြတ်ခဲ့မည်မှာ ‌ကေန်မလွဲ အမှန်သော်ကား ၎င်းတို့သည် ယင်းကိစ္စနှင့်စပ်လျဉ်း၍ အမြဲတစေ ယုံမှားသံသယဖြစ်စေသော ဒွိဟ၌ အမှန်ပင် ရှိနေကြကုန်၏။ ၁

(၁) ဤသည့် အာယတ်တော် (၁၁:၁၁၀)နှင့် စပ်လျဉ်း၍ မောင်လာနာရှစ်ဗ်ဗီရ်အဟ်မဒ်အွတ်ဆ်မာနီက အောက်ပါအတိုင်း ဖွင့်ဆိုရေးသားထားသည်။

'အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာအား တောင်ရာတ်ကျမ်းမြတ်ကို ချီးမြှင့်၍ စေလွှတ်တော်မူခဲ့၏။ ထိုစဉ်ကလည်း တောင်ရာတ်ကျမ်းနှင့်စပ်လျဉ်း၍ အမျိုးမျိုးဒွိဟသံသယ ဖြစ်ခဲ့ကြ၏။ သဘောကွဲလွဲခဲ့ကြ၏။ ငြင်းခုံခဲ့ကြ၏။ အချို့က လက်ခံခဲ့ကြ၏။ အချို့က လက်မခံခဲ့ကြပေ။ အလ္လာဟ်အရှင်မြတ်သည် ဤသည့်ကွဲလွဲမှုများ မဖြစ်ပေါ်စေရန်လည်း တတ်စွမ်းနိုင်တော်မူ၏။ သို့မဟုတ်သည့် ကွဲလွဲမှုများ ဖြစ်ပေါ်ပြီးနောက်တွင် မုသာဝါဒီ မိစ္ဆာဒိဋ္ဌိအားလုံးတို့အား ဖျက်ဆီးတော်မူ၍ အကွဲအလွဲ ပြဿနာအရပ်ရပ်ကို ဖြေရှင်းပစ်ရန်လည်း တတ်စွမ်းနိုင်တော်မူ၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် 'ဟစ်က်မတ် တက္ကဝီနီ'ခေါ် ကမ္ဘာ့အဝှန်းကို ဖန်ဆင်းတော်မူခြင်း၏ မူလထားရှိတော်မူသည့် ရည်ရွယ်ချက်သဘောအရ ဤသို့ပြဿနာအရပ်ရပ်ကို တမဟုတ်ခြင်း ဖြေရှင်းတော်မူရန် လိုလားတော်မမူပေ။

အလ္လာဟ်အရှင်မြတ်ထံတော်၌ ဆုံးဖြတ်ချက်တစ်ရပ် ယခင်မူလကပင် အတည်ဖြစ်ပြီးရှိ၏။ ထိုဆုံးဖြတ်ချက်အရ လူသားတစ်ဦးသည် သတ်မှတ်ထားသည့်အချိန်အထိ လွတ်လပ်စွာ မိမိအလို ရှိရာ ပြုနိုင်ခွင့်ပေးထားတော်မူသည်။ ယင်းသို့ မိမိအလိုရှိရာ ပြုနိုင်ခွင့်ပေးထားတော်မူခြင်းမှာ ထိုသူ မည်သည့်လမ်းစဉ်ကိုလိုက်သည်။ (ဝါ) ဖန်ဆင်းတော်မူသော အရှင်နှင့် ဖန်ဆင်းခြင်းခံရသူ၏ တာဝန်များကို တိကျမှန်ကန်စွာ သိနားလည်၍ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို ခိုလှုံသည်။ သို့မဟုတ် မှန်ကန်သောသဘာဝ၏ အဆုံးအမကိုစွန့်လွှတ်၍ မှားယွင်းသော အပြုအမူများကို ကျင့်မူပြီး ထိုအရှင်မြတ်၏ အမျက်တော်ကို ခံစားသည်ကို စမ်းသပ်တော်မူရန်အတွက်ပင်ဖြစ်သည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၁၁:၇။ ၆၇:၂)တွင် မိန့်ဆိုထားတော်မူသည်။ ဤသည့် ရည်ရွယ်ချက်ကို ရှေ့ရှုတော်မူ၍ လူသား၏ မူလဗီဇ၊ အနေအထား၊ သဘောထားကို အကောင်းအဆိုး ရွေးချယ်ရာ၌ အတင်းအဓမ္မ အကျဉ်းအကျပ်မရှိစေဘဲ လွှန်စွာ မိမိအလိုရှိရာ ပြုနိုင်ရန်အတွက် ဖန်ဆင်းထားတော်မူသည်။ 

وَإِنَّ كُلًّا لَّمَّا لَيُوَفِّيَنَّهُمْ رَبُّكَ أَعْمَالَهُمْ إِنَّهُ بِمَا يَعْمَلُونَ خَبِيرٌ ١١١

၁၁၁။ ၎င်းပြင် (ထိုသူတို့အနက်) အသီးသီးတို့သည် အကြင်သူများပင် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် အချိန်ကျရောက်သောအခါ ထိုသူတို့၏ အပြုအမူများ(၏အစား)ကို *အပြည့်ပေးတော်မူမည်။* [၁] ဧကန်အမှန် ထိုအရှင်မြတ်သည် ၎င်းတို့ ပြုမူကြသည်တို့ကို အကြွင်းမဲ့ သိမြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

فَاسْتَقِمْ كَمَا أُمِرْتَ وَمَن تَابَ مَعَكَ وَلَا تَطْغَوْا إِنَّهُ

၁၁၂။ သို့ဖြစ်ပေရာ အသင်သည်လည်းကောင်း၊ ဝန်ချတောင်းပန်ပြီး အသင်နှင့်အတူရှိနေသူများသည် လည်းကောင်း၊ အသင့်အမိန့်တော် ကျရောက်သည့် အတိုင်း *ဖြောင့်မတ်တည်ကြည်စွာရှိကြလေကုန်။* [၂]

➤➤ လူသားများသည် အကောင်းနှင့်အဆိုးကို မိမိအလိုရှိရာတွင် လွတ်လပ်စွာ ပြုနိုင်ရန်အတွက် လူ့လောက၌ အကောင်းနှင့်အဆိုး၊ အမှားနှင့်အမှန်၊ အလင်းနှင့်အမှောင်စသည်တို့သည် အမြဲတစေ ဒွန်တွဲလျက် ရှိနေရပေမည်။ ရှိလည်း ရှိနေပေသည်။ သို့ရှိနေသည့်အတွက်ကြောင့် လူသားတို့အနက် အချို့တို့သည် အကောင်းကို ပြုကျင့်၍ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို ခံစားကြပေမည်။အချို့မှာမူမကောင်းမှုကို ပြုကျင့်၍ ထိုအရှင်မြတ်၏ အမျက်တော်ကို ခံစားကြရပေသည်။ ဤသို့အားဖြင့် ကုရ်အာန်ကျမ်းမြတ် (၁၁း၁၁၀) ၌ပါရှိသော 'သို့ရာတွင် အသင်၏အရှင် ကရုဏာပြုတော်မူသောသူများ' ဟူသော အာယတ်တော်နှင့် 'ငါအရှင်မြတ် သည် ဂျင်န်များဖြင့်လည်းကောင်း၊ လူသားတို့ဖြင့်လည်းကောင်း ဂျဟန္နမ်ကို မုချဖြည့်တော်မူမည်' ဟူသော အာယတ်တော်များသည် အတည်ဖြစ်ပေမည်။ ဤသည့်အာယတ်တော် (ဝါ) အဆုံးအဖြတ်တော်သည် အလျင်က မရှိခဲ့ပါက ကွဲပြားလျက်ရှိသော ပြဿနာအရပ်ရပ်တို့သည် တမုဟုတ်ခြင်း ဖြေရှင်းပြီး ဖြစ်သွားပေမည်။ များသောအားဖြင့် လူသာမန်တို့သည် ဤသည့် 'ဟစ်က်မတ်' နက်နဲလှသည့် သဘောတရားကို နားမလည် နိုင်ကြသည့်အတွက် မိမိတို့ ကွဲပြားလျက်ရှိသော ပြဿနာများနှင့် စပ်လျဉ်း၍ပင် အဆုံးအဖြတ် ရှိမည် မရှိမည် ဟူသော အရေးတွင် ဒွိဟာသံသယဖြစ်လျက် ရှိကြပေသည်။

(၁) ဆိုလိုသည်ကား ပြစ်ဒဏ်တော် အပြည့်အစုံခတ်ရန် ယခုအချိန်မကျသေး။ အချိန်ကျရောက်သည့်အခါတွင် အလ္လာဟ်အရှင်မြတ်သည် လူအသီးသီးတို့အား ခရေစေ့တွင်းကျ စောကြော၍ ကျိုးပြစ်များကို အတိအကျ အပြည့်အစုံ ပေးတော်မူမည်မှာ မုချအမှန်ပင်ဖြစ်သည်။ ပြစ်ဒဏ်ခတ်တော်မူရာ၌ အနည်းငယ် ဆိုင်းငံ့ထားတော်မူသည်ကို အကြောင်းပြု၍ ထိုအရှင်မြတ်သည် လူသားတို့၏ အပြုအမူများကို မသိရှိဟူ၍ကား အလျှင်း မထင်မှတ်အပ်ပေ။

(၂) တမန်တော်မြတ်အားလည်းကောင်း၊ ကုဖ်ရ်၊ ရှရစ်က်မှ ဝန်ချတောင်းပန်၍ တမန်တော်မြတ်နှင့်အတူ နေထိုင်ကြသော မွတ်စ်လင်မ်များအားလည်းကောင်း၊ ဤအာယတ်တော်များ(၁၁း၁၁၂-၁၂၀)တွင် လာရှိသည့်➤➤

بِمَا تَعْمَلُونَ بَصِيرٌ ﴿١١٢﴾

ထို့ပြင် အသင်တို့သည် *ကျူးလွန်ခြင်း မပြုကြကုန်လင့်။* [၁] ကေန်မလွဲ ထိုအရှင်မြတ်သည် အသင်တို့ပြုမူသမျှတို့ကို ကောင်းစွာ မြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَلَا تَرْكَنُوا إِلَى الَّذِينَ ظَلَمُوا فَتَمَسَّكُمُ النَّارُ وَمَا لَكُم مِّن دُونِ اللَّهِ مِنْ أَوْلِيَاءَ ثُمَّ لَا تُنصَرُونَ ﴿١١٣﴾

**၁၁၃။** ထိုမှတပါး အသင်တို့သည် (မိမိတို့ကိုယ်ကို မိမိတို့ပင်) ညှဉ်းပန်းနှိပ်စက်ကြကုန်သော သူတို့အပေါ်ဝယ် *ယုံကြည်စိတ်ချ အားထားခြင်း မပြုကြကုန်လင့်။* [၂] သို့(ယုံကြည်စိတ်ချ အားထားကြ)ပါလျှင် အသင်တို့၌ ငရဲမီး(ဘေး)သည် ထိရောက်ပေမည်။ ထို့ပြင် အလ္လာဟ်အရှင်မြတ်မှတပါး အသင်တို့အဖို့ အဆွေခင်ပွန်း တစ်ဦးတစ်ယောက်မျှပင် ရှိလိမ့်မည် မဟုတ်ပေ။ ထို့နောက်အသင်တို့သည် ကူညီမှိုင်းမခြင်းကိုလည်း ခံကြရမည်မဟုတ်ပေတကား။

---

➤➤ အတိုင်း အောက်ပါအချက်များကို အထူးတလည် လိုက်နာကျင့်သုံးရန် ညွှန်ပြမိန့်ဆိုထားတော်မူသည်။ ဤသည်တို့သည် ဤကဏ္ဍ၏ အချုပ်သဘောများလည်း ဖြစ်သည်။

**(က) ဖြောင့်မတ်တည်ကြည်စွာရှိကြရမည်။**

တမန်တော်မြတ်နှင့်တကွ တမန်တော်မြတ်နှင့်အတူ ရှိနေကြသော မွတ်စ်လင်မ်များသည် ကာဖိရ်၊ မုရှ်ရစ်က်တို့၏ အနှောင့်အယှက်များကို ဂရုပြုနေရန်မလိုပေ။ တမန်တော်မြတ်ထံသို့ ကျရောက်လာခဲ့သော အမိန့် ပညတ်တော်များကို အမြဲတစေ ဖြောင့်မတ်တည်ကြည်စွာ လိုက်နာကျင့်သုံးကြရန်သာ လိုပေသည်။

**၁ (ခ) စည်းကမ်းမကျူးလွန်ကြရ။**

ဖြောင့်မတ် တည်ကြည်စွာနေရာ၌ မိမိတို့နှင့်ဆန့်ကျင်နေသူများကို အလျင်းမကျူးလွန်ကြရပေ။ မိမိတို့၏ စည်းဝိုင်းအတွင်း၌ ရှိနေကြရမည်။ မိမိတို့၏ လမ်းစဉ်အပေါ်၌သာ တည်ရှိနေကြရမည်။

ဆိုလိုသည်ကား 'အကာအစ်ဒ်' ယုံကြည်မှုများတွင်လည်းကောင်း၊ အကျင့်စာရိတ္တများတွင် လည်းကောင်း၊ ဝတ်ပြုမှုများတွင်လည်းကောင်း၊ အရောင်းအဝယ် အပေးအယူများတွင်လည်းကောင်း၊ တရားဓမ္မဟောကြားရာတွင်လည်းကောင်း၊ အရေးကိစ္စအဝဝတွင် အလွန်အကျွံ မဖြစ်ကြရ၊ အလယ်အလတ် လမ်းစဉ်ကိုသာ လိုက်နာကျင့်သုံးကြရမည် ဟူ၏။

ကျန်အချက်များကို လာမည့် အာယတ်တော်များ၏ ရှင်းချက်အသီးသီးတွင် ကြည့်ပါ။

**၂ (ဂ) ကျူးကျော်စော်ကားသူတို့အား မှီခိုအားထားခြင်းမပြုကြရ**

အထက်၌ စည်းကမ်းမကျူးလွန်ရန် တားမြစ်ထားတော်မူ၏။ ယခု ဤအာယတ်တော်တွင် စည်းကမ်းကျူးလွန်လျက်ရှိသူများဘက်သို့ အနည်းငယ်စိုးစဉ်းမျှ မယိမ်းယိုင်မိကြရန် မြစ်တားထားတော်မူသည်။ ➤➤

وَأَقِمِ الصَّلٰوةَ طَرَفَيِ النَّهَارِ وَزُلَفًا مِّنَ الَّيْلِ ۚ إِنَّ الْحَسَنٰتِ يُذْهِبْنَ السَّيِّاٰتِ ۚ ذٰلِكَ ذِكْرٰى لِلذّٰكِرِيْنَ ﴿١١٤﴾

၁၁၄။ ၎င်းပြင် အသင်သည် ဆွလာတ်ဝတ်ပြုမှုကို *နေ့၏နှစ်ဘက်အစွန်း၌လည်းကောင်း၊ ညဉ့်၏ အစိတ်အပိုင်းများ၌လည်းကောင်း၊ ဆောက်တည်ပါလေ။* [၁] (မလွဲကေန် ကောင်းမှုသုစရိုက်များသည် မကောင်းမှုဒုစရိုက်များကို ပပျောက်စေကုန်၏။) ဤကား ဆုံးမသြဝါဒကို နာခံသူများအဖို့ ဆုံး*မသြဝါဒပင်ဖြစ်ချေသတည်း။* [၂]

---

➤➤ ယင်းစည်းကမ်း ကျူးလွန်လျက်ရှိသောသူများနှင့် ချစ်ခင်ရင်းနှီးမှု၊ ပေါင်းဖက် ဆက်ဆံမှု၊ ၎င်းတို့အား အရိုအသေပေးမှု၊ ချီးမွမ်းမှု၊ ၎င်းတို့နှင့် နေထိုင်ဝတ်စားရာတွင် အဆင်တူမှု၊ ပူးပေါင်းဆောင်ရွက်မှုစသည့် ကိစ္စအားလုံးတို့တွင် တတ်စွမ်းနိုင်သမျှ ရှောင်ကြဉ်ကြရမည်။ သို့မဟုတ်ပါလျှင် ငရဲမီးသည် အသင်တို့ထံသို့လည်း ကူးစက်လာပေမည်။ ထိုအချိန်၌ အသင်တို့အဖို့ အလ္လာဟ်အရှင်မြတ်မှတပါး ကူညီရိုင်းပင်းမည့် အဆွေခင်ပွန်းဟူ၍ တစ်ဦးတစ်ယောက်မျှ ရှိမည်မဟုတ်ပေ။ တစ်စုံတစ်ရာ အကူအညီလည်း အလျှင်းရရှိကြမည် မဟုတ်ပေ။ ထို့အတွက်ကြောင့် ယင်းကျူးကျော်လျက်ရှိသူများဘက်သို့ အလျှင်း မယိမ်းယိုင်ကြရ။ ၎င်းတို့အား မှီခိုအားထားခြင်း အလျှင်းမပြုကြရ။

**(၁) (ဃ) ဆွလာတ်ဝတ်ပြုကြရမည်**

အထက်တွင် ကျူးကျော်သူများဘက်သို့ မယိမ်းယိုင်ကြရန် မြစ်တားထားတော်မူသည်။ ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်ဘက်တော်သို့သာလျှင် နံနက်၊ ညနေနှင့် ညဉ့်ပိုင်းများတွင် စိတ်စေတနာ ဖြူစင်စွာဖြင့် နိဝါတတရား ရှေ့ဝယ်ထား၍ အချိန်မှန်မှန် စည်းကမ်းကျကျ ဆွလာတ်ဝတ်ပြုခြင်း အားဖြင့် ယိမ်းယိုင်ကြရန် မိန့်ဆိုထားတော်မူသည်။ ဤသည့် ဆွလာတ်ဝတ်ပြုမှုသည် အလ္လာဟ်အရှင်မြတ် အထံတော်မှ အကူအညီရရှိရန်အတွက် အကောင်းဆုံးသော အကြောင်းတရားပင် ဖြစ်ပေသည်။ ဆွလာတ်သည် ကောင်းမှုအပေါင်းတို့၏ အချုပ်ဖြစ်သည်။ ကောင်းမှုများသည် မကောင်းမှုများကို ပပျောက်စေသည်။ ထို့အတွက် ဆွလာတ်ဝတ်ပြုကြရပေမည်။

**ဆွလာတ်ဝတ်ပြုရန်အချိန်များ**

ဤအာယတ်တော်တွင် ပါရှိသည့် 'နေ့၏နှစ်ဘက်စွန်း' ဟူသည် နေမထွက်မီ ဆောက်တည်ရသော 'ဖဂျ်ရ်' နှင့် နေမဝင်မီ ဆောက်တည်ရသော 'အက်ဆွ်ရ်' ဆွလာတ်များကို ဆိုလိုသည်။ သို့မဟုတ် နေ့၏ နှစ်ဘက်စွန်းအနက် ပထမအစွန်းဟူသည် 'ဖဂျ်ရ်' ကိုလည်းကောင်း၊ အခြားတဘက်စွန်းဟူသည် 'မဃ်ရစ်ဗ်'ကို လည်းကောင်း ဆိုနိုင်သည်။ အဘယ့်ကြောင့်ဆိုသော် မဃ်ရစ်ဗ် သည် နေဝင်ချိန်နှင့် လုံးဝကပ်လျက် ဝတ်ပြုကြရပေသည်။

အတိတ်ခေတ် အချို့ပညာရှင်များက 'နေ့၏နှစ်ဘက်စွန်း'တွင် 'ဖဂျ်ရ်' 'ဇုဟ်ရ်' နှင့် 'အဆ်ဆွ်ရ်' ဆွလာတ်သုံးကြိမ်လုံး အကျုံးဝင်သည်ဟု ဆိုကြသည်။ ဆိုလိုသည်ကား နေ့ကို နှစ်ပိုင်းပိုင်းပြီး ပဌမပိုင်းတွင် 'ဖဂျ်ရ်' ကို ထည့်သွင်းရေတွက်၍ (မွန်းတည့်သည့်အချိန်မှ နေဝင်သည့်အချိန်အထိဖြစ်သော ဒုတိယပိုင်းတွင် 'ဇုဟ်ရ်' နှင့် 'အဆ်ဆွ်ရ်' ဆွလာတ် ၂–ကြိမ်လုံးကို ထည့်သွင်း ရေတွက်ထားကြသည်။ ၎င်းနောက် ➤➤

➤➤ 'ညဥ့်၏ အပိုင်းများတွင် 'အိရှာ' သို့မဟုတ် 'မဃ်ရစ်ဗ်' နှင့် 'အိရှာ' သို့မဟုတ် 'မဃ်ရစ်ဗ်' နှင့် 'အိရှာ' ၂-ကြိမ်လုံးကို ထည့်သွင်းထားကြသည်။ (ဤသို့အားဖြင့် ဤအာယတ်တော်တွင် ဆွလာတ်ငါးကြိမ်လုံး၏ အချိန်များ ပါရှိနေပေသည်။

အိဗ်နူကဆီရ် ကျမ်းရှင်က ဖွင့်ဆိုရေးသားထားသည်မှာ 'နေ့၏နှစ်ဘက်စွန်း ဟူသည် 'ဖဂျ်ရ်' နှင့် အတ်ဆွ်ရ်' ကို ဆိုလိုသည်။ 'ညဥ့်၏အပိုင်းများ' ဟူသည် 'တဟဂ်ျဂျုဒ်' ကို ဆိုလိုသည်။ အဘယ်ကြောင့်ဆိုသော် အစ္စလာမ်သာသနာတော် ထွန်းကားကာစအချိန်တွင် ဤသည့် ဆွလာတ် သုံးကြိမ်သာလျှင် 'ဖရာသွ်' ဖြစ်ခဲ့ပေ သည်။ ထို့နောက်တွင် တဟဂ်ျဂျုဒ်၏ ဖရာသွ်တာဝန်သည် 'မန်စူခ်' ဖြစ်သွားခဲ့ပေသည်။ ထို့နောက်တဖန် ကျန်သော ဆွလာတ် ၂-ကြိမ်နှင့်တကွ အခြားဆွလာတ် သုံးကြိမ်၊ ဖရာသွ်ဖြစ်လာခဲ့ပေရာ ဆွလာတ်ငါးကြိမ် ဖရာသွ် ဖြစ်လာခဲ့ပေသည်။

**မှတ်ချက်။**

ကုရ်အာန်ကျမ်းမြတ်တွင် ဆွလာတ်ဝတ်ပြုချိန်နှင့်စပ်လျဥ်းသည့် အာယတ်တော်များ လာရှိ၏။ ကြည့်-ကုရ်အာန် (၃၀:၁၇-၁၈။ ၁၇:၇၈။ ၁၁:၁၁၄) ဤသည့် အာယတ်တော် များတွင် ဆွလာတ်အချိန်များကို အကျဉ်းသင်္ခေပအားဖြင့်သာ မိန့်ဆိုထားတော်မူသည်။ ဆွလာတ်အချိန်များ အတိအကျကိုမူ တမန်တော်မြတ်၏ သြဝါဒတော်၌ သာလျှင် တွေ့ရှိရပေသည်။ ယခုခေတ် အချို့ခေတ်သစ်ပညာရှင်များက အစစအရာရာနှင့် စပ်လျဥ်း၍ ကုရ်အာန်ကျမ်းမြတ်မှပင် အသေးစိပ် အကျယ်ကိုထုတ်ပြရန် ကြိုးစားကြ၏။ ဤသည် ၎င်းတို့၏ မှားယွင်းချက်ပင်။ မာဂျိဒီ၊ အ-၃။ စ-၄၂၈။ အအ-၁၆၀။

(၂) ကောင်းမှုသည် မိမိ၏ သဘာဝအလျောက်လည်း ကောင်းမှုပင်ဖြစ်၏။ ထို့ပြင်တဝ အခြားမကောင်းမှုများ ကိုလည်း ပပျောက်စေ၏။ ကောင်းမှုများ ပွားစေရန်အတွက် ဤသည်ထက် ကောင်းမွန်မြင့်မြတ်သော နည်းကောင်း သည် အဘယ်မှာ ရှိနိုင်အံ့နည်း။

လူများသည် အကယ်၍ မိမိတို့အချင်းချင်း ပေါင်းသင်းဆက်ဆံ ပေးယူမှုများတွင် ဤသည့် နည်းကောင်းကို ကျင့်သုံးနိုင်ကြပါက မြောက်မြားစွာသော မကျေနပ်မှု၊ အာဃာတထားမှု၊ တင်းမာမှု၊ ငြိငြင်မှုများ သည် အလွန်နည်းသွားပေမည်။

အလ္လာဟ် အရှင်မြတ်သည် ဤသည့် နည်းကောင်းကို ကျင့်သုံးတော်မူ၏။ ကောင်းမှုများရှိက မကောင်းမှုများကို လျစ်လျူပြုတော်မူ၏။ သို့ရာတွင် ကျွန်ုပ်တို့လူသားများမှုကား ဤသည့် နည်းကောင်းကို ကျင့်သုံးရန်ဝေးစွ၊ ဆန့်ကျင်၍ပင် နေကြ၏။ မိမိတို့ညီနောင်များ၏ ချို့တဲ့မှု၊ ချွတ်ယွင်းမှုများကိုသာ ထုတ်ဖော် ပြောဆိုနေကြ၏။ ထိုညီနောင်များ၏ကောင်းမှုများ ကောင်းမွန်သော အရည်အချင်းများကိုမူ ဖုံးအုပ်၍ ထားကြ၏။ ဤကားဝမ်းနည်းဖွယ်ပင်။

ကောင်းမှုများကြောင့် မကောင်းမှုများ ပပျောက်သွားသည်ဟူသော ဤသည့်နည်းလမ်းသည် အဆုံးအမသြဝါဒကို နာခံလိုသော သူများအဖို့ အလွန် ပြည့်ဝစုံလင်လှသည့် အဆုံးအမ သြဝါဒတစ်ပါးပင် ဖြစ်ပေသည်။

وَاصْبِرْ فَإِنَّ اللَّهَ لَا يُضِيعُ أَجْرَ الْمُحْسِنِينَ ﴿١١٥﴾

**၁၁၅။** ထို့ပြင် အသင်သည် သည်းခံပါလေ။ ဧကန် စင်စစ် အလ္လာဟ်အရှင်မြတ်သည် ကောင်းမှုပြုကုန်သော သူတော်စင်တို့၏အကျိုးကို အချည်းနှီး ဆုံးရှုံးစေတော်မူသည် မဟုတ်ပေ။ [၁]

فَلَوْلَا كَانَ مِنَ الْقُرُونِ مِن قَبْلِكُمْ أُولُو بَقِيَّةٍ يَنْهَوْنَ عَنِ الْفَسَادِ فِي الْأَرْضِ إِلَّا قَلِيلًا مِّمَّنْ أَنجَيْنَا مِنْهُمْ ۗ وَاتَّبَعَ الَّذِينَ ظَلَمُوا مَا أُتْرِفُوا فِيهِ وَكَانُوا مُجْرِمِينَ ﴿١١٦﴾

**၁၁၆။** သို့ပါ၍ အသင်တို့ အလျင်ရှိခဲ့ဘူးကြသော သာသနာဝင် လူစုတို့တွင် ငါအရှင်မြတ်သည် ထိုသာသနာဝင်လူစုအနက်မှ ကယ်ဆယ်တော်မူခဲ့သော အနည်းငယ်မျှသော သူတို့မှတပါး ကမ္ဘာမြေပေါ်၌ ပျက်စီးရာပျက်စီးကြောင်း ပြုလုပ်ခြင်းမှ တားမြစ်ကြမည့် ဉာဏ်အမြော်အမြင်ရှိသူများ အဘယ်ကြောင့် မရှိခဲ့ကြဘိသနည်း။

ထို့ပြင် (မိမိတို့ကိုယ်ကို မိမိတို့ပင်) နှိပ်စက်ညှဉ်းပန်းကြကုန်သော သူတို့မူကား ၎င်းတို့ ပျော်ပိုက်စေခြင်းခံကြရသောစည်းစိမ်များ၌ ပျော်မွေ့လျက်ရှိ ထိုစည်းစိမ်များ၏နောက်သို့ပင် လိုက်ခဲ့ကြကုန်၏။ ထို့ပြင် ၎င်းတို့သည် ပြစ်မှု ကျူးလွန်လေ့ရှိသူများပင် ဖြစ်ခဲ့ကြကုန်သတည်း။ [၂]

---

① (c) သည်းခံကြရမည်

ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို လေ့လာဆင်ခြင်လျှင်၊ အလ္လာဟ်အရှင်မြတ်ထံတော်မှ အကူအညီကို ရယူရာတွင် (၁)ဆွလာတ်ဝတ်ပြုခြင်းနှင့် (၂) သည်းခံခြင်းသည် အထူးအကျိုးသက်ရောက်ကြောင်း တွေ့ရှိရပေသည်။ ဤသည့်သဘောကို ကုရ်အာန် (၂း၄၅။ ၂း၁၅၃)တွင်လည်း မိန့်ဆိုထားတော်မူပေသည်။ ဤတွင်လည်း ဆွလာဝတ်ပြုရမည့်အကြောင်း၏ အနောက်တွင် 'ဆွာဗ်ရ်' သည်းခံရမည့်အကြောင်းကို မိန့်ဆိုထားတော်မူသည်။

ဆိုလိုသည်ကား မုအ်မင်န်များသည် အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်များကို လိုက်နာကျင့်သုံးရာတွင် တည်ကြည် ကြံ့ခိုင်ကြရပေမည်။ ယင်းသို့ လိုက်နာကျင့်သုံးရာတွင် တွေ့ဆုံရင်ဆိုင်ရမည့် ဘေးအန္တရာယ်အပေါင်းကိုလည်း သည်းခံကြရပေမည်။ ဤသည့် အရည်အချင်း ၂-ရပ်နှင့် ပြည့်စုံလျှင် အလ္လာဟ်အရှင်မြတ်ထံတော်မှ အကူအညီ ရရှိမည်မှာ အမှန်ပင် ဖြစ်ပေသည်။ အောင်မြင်မှုသည် ဤသို့သော ပုဂ္ဂိုလ်များ အဖို့သာ ဖြစ်ချေသည်။

➤➤

وَمَا كَانَ رَبُّكَ لِيُهْلِكَ الْقُرٰى بِظُلْمٍ وَّاَهْلُهَا مُصْلِحُوْنَ ﴿١١٧﴾

၁၁၇။ စင်စစ်သော်ကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်သည် မြို့ရွာများကို ထိုမြို့ရွာသူမြို့ရွာသားများသည် လူကောင်းများ ဖြစ်နေကြပါလျက် အဓမ္မ အလျင်း ဖျက်ဆီးတော်မူသည် မဟုတ်ပေ။ ၁

➤➤ ဆွလာတ်နှင့်ဆွာဗ်ရ်သည် ကောင်းမှုများတွင် အထွတ်အထိပ်များပင် ဖြစ်ပေသည်။ အလ္လာဟ်အရှင်မြတ်အထံတော်၌ ကောင်းမှုပြုသူများ၏ ကုသိုလ်အကျိုးများသည် ဘယ်သောအခါမျှ အချည်းအနှီး ဖြစ်သည် မဟုတ်ပေ။ ရသင့်ရထိုက်သည်ထက်ပင် ပို၍ချီးမြှင့်တော်မူပေသည်။

၂ (စ) **ကမ္ဘာမြေပြင်တွင် ဖျက်ဆီးမှုကို အချိန်မီ တားဆီးကြရမည်။**

ဤအာယတ်တော်တွင် အတိတ်ခေတ်လူမျိုးများအကြောင်း မိန့်ဆိုပြီး တမန်တော်မြတ်၏ နောက်လိုက်များအား ၎င်းတို့တွင် ကောင်းရာညွှန်၍ မကောင်းရာကို မြစ်တားသူများ အများအပြားရှိရန် တိုက်တွန်းမိန့်ဆိုထားတော်မူသည်။ အတိတ်ခေတ်တွင် များသောအားဖြင့် လူမျိုးများ ပျက်စီးခဲ့ကြရသည့် အကြောင်းမှာ ၎င်းတို့သည် လောကီစည်းစိမ်များတွင် နစ်မွန်းပြီး ပြစ်မှုဒုစရိုက်ကို ကျူးလွန်နေခဲ့ကြ၏။ အနည်းအကျဉ်းကောင်းမှု အရိပ်အယောင်ရှိ၍ အရေးပါအရာရောက်သော အချို့အကြီးအကဲများသည်လည်း မိမိတို့ရှေ့မှောက်တွင် ဆိုးမိုက်နေကြသောသူများအား တစ်စုံတစ်ရာ သွန်သင် ဆုံးမပဲ့ပြင်ခြင်း မရှိဘဲပစ်၍ ထားခဲ့ကြ၏။ ဤသို့အားဖြင့် အတိတ်ခေတ်များတွင် လူများသည် ကုဖ်ရ်၊ ရှရစ်က်၊ သွေးဖည်မှု၊ ငြင်းပယ်မှု၊ ကျူးကျော်စော်ကားမှု၊ ဆိုးသွမ်းမှု စသည့် မိုက်မဲမှုများတွင် နစ်မွန်း၍ ပျက်စီး၍ နေခဲ့၏။

အချို့လက်တစ်ဆုပ်မျှသော ပုဂ္ဂိုလ်များက ကောင်းရာကိုညွှန်၍ မကောင်းရာမှ မြစ်တားခဲ့ကြသည်မှာ မှန်၏။ သို့ရာတွင် ယင်းသို့ တိုင်းပြည်နှင့်အဝန်း ဆိုးမိုက်နေကြသည့် အချိန်မျိုးတွင် ၎င်းတို့၏စကားကို အသူနားခံအံ့နည်း။ ၎င်းတို့၏အသံသည် လေထဲ၌ပင် ပျောက်ကွယ်သွားခဲ့ရ၏။ နောက်ဆုံးတွင် ထိုလက်တစ်ဆုပ်စာမျှသော ပုဂ္ဂိုလ်တစ်စုမှအပ ကျန်တစ်မျိုးသားလုံးသည် ပြစ်ဒဏ်တော်သင့်၍ မရှုမလှ ပျက်စီးသွားခဲ့ကြရလေသည်။

၁ (က) မြို့ရွာတစ်ခုရှိ လူများသည် မိမိတို့၏အခြေအနေများကို ကောင်းမွန်အောင် ပြုပြင်လျက်ရှိကြလျှင် ကောင်းမှုများကို ပွားများစေလျက်ရှိကြလျှင် ကျူးကျော်မှု၊ ဖျက်ဆီးမှုများကို တားဆီးလျက်ရှိကြလျှင် အလ္လာဟ်အရှင်မြတ်သည် ဤသို့သော မြို့ရွာများကို အကြောင်းမဲ့ အတင်းအဓမ္မ ဖျက်ဆီးတော်မူသည် အလျင်းမဟုတ်ပေ။ ထိုအရှင်မြတ်၏ ပြစ်ဒဏ်တော်သည် လူအများ ကုဖ်ရ်၊ ရှရစ်က်၊ သွေးဖည်ငြင်းဆန်မှု၊ ကျူးကျော်စော်ကားမှု၊ ဆူပူသောင်းကျန်းမှု စသည့်ဆိုးသွမ်းမှုများကို ကျူးလွန်ရာတွင် စည်းကမ်းလွန်ကျူးလာကြသည့်အခါကျမှသာလျှင် သက်ရောက်လာပေသည်။

(ခ) အချို့ပညာရှင်များက အာယတ်တော်တွင် ပါရှိသည့် 'ဇုလ်မ်' ဟူသောပုဒ်ကို 'ရှရစ်က်' ဟူ၍ အနက်ဖွင့်ဆိုကြသည်။ ဆိုလိုသည်ကား လူမျိုးတစ်မျိုးသည် အချင်းချင်းအပေးအယူ အရောင်းအဝယ် စသည့်ဆက်ဆံမှုများကို ကောင်းမွန်အောင် ပြုလုပ်နေကြသမျှ ကာလပတ်လုံး ယင်းသို့သော လူမျိုးကို မုရှ်ရိစ်က် ဖြစ်နေကြရုံမျှဖြင့် အလ္လာဟ်အရှင်မြတ်သည် ဖျက်ဆီးတော်မူသည် မဟုတ်ဟူ၏။ မာဂျိဒီ။

**၁၁၈။** အမှန်သော်ကား အကယ်၍သာ အသင့်
အားဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အလို
ရှိတော်မူခဲ့ပါလျှင် လူခပ်သိမ်းတို့အား သာသနာဝင်
တစ်ခုတည်းသော လူစုသာ ပြုလုပ်တော်မူခဲ့အံ့။
သို့ရာတွင် ၎င်းတို့သည် သဘောကွဲလွဲသူများအဖြစ်
အမြဲထာဝစဉ် ရှိနေကြမည်သာတည်း။

وَلَوْ شَاءَ رَبُّكَ لَجَعَلَ النَّاسَ
أُمَّةً وَاحِدَةً ۖ وَلَا يَزَالُونَ
مُخْتَلِفِينَ ﴿١١٨﴾

**၁၁၉။** အသင်၏ *အရှင်မြတ်က ကရုဏာပြုတော်
မူသောသူတို့မှတစ်ပါး* [၁] စင်စစ်မှာမူကား ထိုအရှင်
မြတ်သည် ဤသည့်*အတွက်ကြောင့်ပင် ၎င်းတို့အား
ဖန်ဆင်းတော်မူခဲ့လေသည်။* [၂] ၎င်းပြင် ‘ငါအရှင်မြတ်
သည် *ဂျဟန္နမ်ငရဲဘုံကို ဂျင်(န်)သတ္တဝါများနှင့်
လူများအားလုံးဖြင့်ပြည့်နှက်စေတော်မူမည်*’ [၃] ဟူသော
အသင့်အားဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏
စကားတော်လည်း ဆုံးခန်းတိုင်ရောက်ခဲ့လေပြီ။

إِلَّا مَن رَّحِمَ رَبُّكَ ۚ وَلِذَٰلِكَ
خَلَقَهُمْ ۗ وَتَمَّتْ كَلِمَةُ رَبِّكَ
لَأَمْلَأَنَّ جَهَنَّمَ مِنَ الْجِنَّةِ
وَالنَّاسِ أَجْمَعِينَ ﴿١١٩﴾

---

(၁) အထက်တွင် အကြိမ်ကြိမ် ရေးသားဖော်ပြပြီး ဖြစ်သည့်အတိုင်း ကမ္ဘာအဝှန်းရှိ လူသားအားလုံးတို့ကို အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ‘ဟစ်က်မတ်တက္ကဝီနီ’ အရ လမ်းစဉ်တစ်ခုတည်းအပေါ်၌ ထားရှိတော်မူရန် လိုလားတော်မမူပေ။ ထို့အတွက်ကြောင့်လည်း အမှန်တရားကို လက်ခံရေး လက်မခံရေးတွင် လူသားတို့သည် အမြဲတစေ သဘောကွဲလွဲခဲ့ကြသည်။ နောင်ကိုလည်း ကွဲလွဲမည်သာဖြစ်သည်။ အကယ်၍သာ လူသားတို့သည် မှန်ကန်သော သဘာဝနှင့်အညီ လိုက်နာကျင့်သုံးကြမည်ဆိုပါက သဘောကွဲလွဲရန်အကြောင်း အလျှင်းမရှိပေ။ ထို့အတွက်ကြောင့် ‘အသင်၏အရှင်က ကရုဏာပြုသောသူများမှတစ်ပါး’ ဟူ၍ မိန့်ဆိုကာ အမှန်တရားကို လိုက်နာကျင့်သုံးသည့်အတွက် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို ခိုလှုံရသော သူများသည် ထိုသဘောကွဲလွဲသူများတွင် မပါဝင်ကြောင်း သတိပေးထားတော်မူခြင်း ဖြစ်သည်။

(၂) ဆိုလိုသည်ကား လူသားတို့တွင် အချင်းချင်း အတွေးအခေါ် အမြော်အမြင် အကျင့်အမူများ ကွဲပြားမှုသည် လူ့သဘာဝဗီဇ၌ပင် ဖန်ဆင်းထားတော်မူပေသည်။ ထို့အတွက် အမှန်တရားကို လိုက်နာသူများရှိကြသကဲ့သို့ အမှားကို လိုက်နာသူများလည်း ရှိကြပေမည်။ အမှန်နှင့်အမှားသည် အမြဲတစေ ဒွန်တွဲလျက်ရှိနေသကဲ့သို့ အမှန်ကို လိုက်သူများနှင့် အမှားကို လိုက်နာသူများလည်း အမြဲတစေ ဒွန်တွဲလျက်ပင် ရှိနေကြပေမည်။ ဤသည့်သဘောတရားကို ဆင်ခြင်မိပါက အဘယ့်ကြောင့် လူသားအားလုံးတို့သည် အမှန်တရားချည်းကိုသာ မလိုက်နာကျဘဲ အချို့က အမှန်ကိုလိုက်နာ၍ အချို့က အမှားကို လိုက်နာနေကြသနည်းဟု တွေးတော၍ စိတ်ပျက်မည်မဟုတ်ပေ။

တစ်နည်းအားဖြင့် ဤ အာယတ်တော်တွင် တမန်တော်မြတ်အား ➤➤

وَكُلًّا نَّقُصُّ عَلَيْكَ مِنْ أَنۢبَآءِ
الرُّسُلِ مَا نُثَبِّتُ بِهِۦ فُؤَادَكَ ۚ
وَجَآءَكَ فِى هَٰذِهِ الْحَقُّ

၁၂၀။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ရှေးရှုလ် တမန်တော်များ၏ အကြောင်းသတင်းများအနက်မှ အကြင်အကြောင်းသတင်း အလုံးစုံကို အသင်အား ပြောကြားတော်မူ၏။ ငါအရှင်မြတ်သည်ထိုအကြောင်းသတင်းများဖြင့် အသင်စိတ်နှလုံးကို မြဲမြံကြံ့ခိုင်စေတော်မူ၏။

---

➤➤ နှစ်သိမ့်စေတော်မူထားပေသည်။ ဤသည် 'တက္ကဝီနီ' သဘောတရားဖြစ်သည်။ တရှိရီအီ သဘောတရားအရ လူသားနှင့်ဂျင်န်တို့အား ဖန်ဆင်းတော်မူခြင်း၏ အဓိကရည်ရွယ်ချက်မှာ အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ရန် အတွက်သာ ဖြစ်သည်။ တက္ကဝီနီနှင့် တရှိရီအီသည် အချင်းချင်း ဆန့်ကျင်သည်မဟုတ်ပေ။

အချို့ပညာရှင်များက ဤသည့်အာယတ်တော်၏ အနက်ကို ထိုအရှင်မြတ်သည် ၎င်းတို့အား ထိုသည့် ကရုဏာတော်အတွက်သာလျှင် ဖန်ဆင်းထားတော်မူသည်' ဟူ၍ တစ်နည်း ဖွင့်ဆိုကြသည်။

(၃) လူ့လောကကို ဖန်ဆင်းတော်မူခြင်း၏ အဓိကရည်ရွယ်ချက်မှာ အလ္လာဟ်အရှင်မြတ်၏ 'ဂျလာလီ'။ ဂျမာလီ' ဆိုဖတ်တော်များ (ဝါ) တောက်ပထက်မြက်သော တန်ခိုးအာနုဘော်များနှင့် နူးညံ့သိမ်မွေ့သော ဂုဏ်တော်များကို ထင်ရှားပြတော်မူရန်ပင် ဖြစ်သည်။ ထို့အတွက် ထိုတန်ခိုးတော်၊ ဂုဏ်တော်များ ထင်ရှားပြရာ ဌာနများသည်လည်း အမျိုးမျိုးအစားစား အပြားပြားပင် ရှိရပေမည်။ သို့မှသာလျှင် အုပ်စုတစ်စုသည် မိမိတို့ အရှင်သခင်၏ သစ္စာတော်ကို စောင့်သိရိုသေပြီး အမိန့်တော်များကို နာခံကြသည့်အတွက် ကရုဏာတော်ကို ခိုလှုံကြရပေမည်။ ကရုဏာတော်သည် ၎င်းတို့၌ ထင်ရှားတော်မူပေမည်။ ဤသည် 'အသင့်အရှင်သခင်က ကရုဏာပြုသောသူများမှ တစ်ပါး' ဟူသော အာယတ်တော်၏ သရုပ်သဏ္ဌာန်ပင်။ ဒုတိယအုပ်စုတစ်ခုသည် မိမိတို့၏ သစ္စာဖောက်မှု၊ သွေဖည်မှု၊ ငြင်းဆန်မှုများကြောင့် အလ္လာဟ်အရှင်မြတ်၏ အမျက်တော်စူးရှပြီး အမြဲတစေ ငရဲသို့ လားကြရပေမည်။ ဤသည် 'ငါအရှင်မြတ်သည် ဂျဟန္နမ် ငရဲကို ဂျင်န် သတ္တဝါနှင့် လူသားအားလုံးတို့ဖြင့် ဖြည့်တော်မူမည်' ဟူသော အာယတ်တော်၏ သရုပ်သကန်ပင်။

အသို့ပင် ဖြစ်စေကာမူ ကမ္ဘာ့အဝှန်းကို ဖန်ဆင်းတော်မူခြင်း၏ 'တရှိရီအီ' တရားဥပဒေဆိုင်ရာ အဓိကရည်ရွယ်ချက်မှာ အလ္လာဟ်အရှင်မြတ်အား 'အိဗာဒတ်' ဝတ်ပြုရန်ပင် ဖြစ်သည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၅၁း၅၆)တွင် ဂျင်န်များနှင့် လူသားတို့အား ငါဖန်ဆင်းထားတော်မူခြင်းမှာ ငါ့အား ခဝပ်ကိုးကွယ်ကြရန်သာ ဖြစ်သည်' ဟု အတည့်အလင်း မိန့်ဆိုထားတော်မူပေသည်။

ထို့ပြင်တဝ ကမ္ဘာ့အဝှန်းကို ဖန်ဆင်းထားတော်မူခြင်း၏'တက္ကဝီနီ' မူလဖန်ဆင်းတော်မူခြင်းဆိုင်ရာ အဓိကရည်ရွယ်ချက်မှာ 'တရှိရီအီ' တရားဥပဒေကို လူသားတို့သည် မိမိတို့ အာသာဆန္ဒဖြင့် လွတ်လပ်စွာ လိုက်နာကျင့်သုံးသောသူများနှင့် မလိုက်နာမကျင့်သုံးသောသူ ဟူ၍ အုပ်စု၂-စု ဖြစ်ပေါ်စေရန်ပင် ဖြစ်သည်။ ထိုအုပ်စု ၂-စုအနက် အုပ်စုတစ်စုသည် အလ္လာဟ်အရှင်မြတ်၏ 'ဂျမာလီ'ဂုဏ်တော်များကို ခိုလှုံကြရပေမည်။ အခြားအုပ်စုတစ်စုသည် အလ္လာဟ်အရှင်မြတ်၏ 'ဂျလာလီ'ဂုဏ်တော်များကို ခံစားကြရပေမည် ။တစ်နည်းအားဖြင့် အုပ်စုတစ်ခုသည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို ခိုလှုံကြပေမည်။ အခြားအုပ်စု တစ်ခုသည် ထိုအရှင်မြတ်၏ အမျက်တော်စူးရှခြင်းကို ခံရပေမည်ဟူ၏။

ငှင်းပြင် ဤကဏ္ဍတွင် အမှန်တရားလည်း အသင့်ထံ ရောက်ရှိလာခဲ့လေပြီ။ ထိုနည်းတူစွာ (ဤ အကြောင်းသတင်းများတွင်)မုအ်မင် သက်ဝင်ယုံကြည် သူတို့အဖို့ ဆုံးမဩဝါဒသည်လည်းကောင်း၊ သတိပေး နှိုးဆော်ချက်သည်လည်းကောင်း၊ ရှိပေသတည်း။ ၁

وَمَوْعِظَةٌ وَّذِكْرٰى لِلْمُؤْمِنِيْنَ ﴿١٢٠﴾

၁၂၁။ ထို့ပြင် (အို-နဗီတမန်တော်) အသင်သည် အီမာန်ယုံကြည်သူတို့အား (ဤသို့)ပြောကြားပါလေ။ (ဟယ်-အချင်းတို့) အသင်တို့သည် (မိမိတို့နေရာတွင် မိမိတို့)တတ်စွမ်းနိုင်သမျှ ကျင့်မူကြလေကုန်။ ဧကန် စင်စစ် ငါတို့သည်လည်း (မိမိတို့အနေနှင့်) ဆန့်ကျင် လျက်ပင် ရှိကြကုန်သည်။

وَقُلْ لِّلَّذِيْنَ لَا يُؤْمِنُوْنَ اعْمَلُوْا عَلٰى مَكَانَتِكُمْ ؕ اِنَّا عٰمِلُوْنَ ﴿١٢١﴾

၁၂၂။ ငှင်းပြင် အသင်တို့ မျှော်ကြလေကုန်၊ ဧကန် အမှန် ငါတို့သည်လည်း စောင့်မျှော်သူ များပင် ဖြစ်ကြပေသည်။

وَانْتَظِرُوْا ۚ اِنَّا مُنْتَظِرُوْنَ ﴿١٢٢﴾

---

(၁) အထက်တွင် တမန်တော်များအနက် အချို့တမန်တော်များ၏ အတ္ထုပ္ပတ္တိများကို မိန့်ဆိုထားတော်မူ၏။ ယခုကဏ္ဍအဆုံးတွင် အဆိုပါ အတ္ထုပ္ပတ္တိများ၏ အချို့အကျိုးအာနိသင်များကို မိန့်ဆိုထားတော်မူ၏။

အတိတ်ခေတ်လူမျိုးများနှင့် တမန်တော်များ၏ အတ္ထုပ္ပတ္တိများကို ကြားသိရခြင်းအားဖြင့် တမန်တော်မြတ်အား စိတ်နှလုံးသည် အတိုင်းမသိ ပိုမို၍ပင် တည်ငြိမ်မြဲမြံ ကြံ့ခိုင်သွားပေသည်။ နောက်လိုက် တပည့်များသည်လည်း မှန်ကန်သောအကြောင်း၊ စကားများကို သိရှိသွားကြရပေသည်။ ထို့ပြင်တဝ ယင်း အတ္ထုပ္ပတ္တိများတွင် အဆုံးအမ ဩဝါဒများလည်း ပါရှိပေသည်။

အတိတ်ခေတ်များတွင် အချို့လူမျိုးများသည် ထိုထိုဤဤ အလီလီသော ပြစ်မှုများကို ကျူးလွန် ခဲ့ကြသည့်အတွက် ပျက်စီးသွားခဲ့ကြရ၏။ အချို့သူမွန်သူမြတ်များသည် အကြင်သို့သော တရားလမ်းစဉ်များကို လိုက်နာကျင့်သုံးခဲ့ကြသည့်အတွက် လွတ်မြောက်သွားခဲ့ကြ၏။

ဤသည့် အကြောင်းများကို ကြားသိရသောအခါ ပုဂ္ဂိုလ်တစ်ဦးသည် လူ့သဘာဝအလျောက် ပျက်စီးစေသည့်လမ်းစဉ်ကို ရှောင်ကြဉ်၍ လွတ်မြောက်စေသည့် တရားလမ်းစဉ်ကို လိုက်နာကျင့်သုံးရန် ကြိုးစားလာပေသည်။

အမှန်မှာ ကုရ်အာန်ကျမ်းမြတ်တွင်ပါရှိသည့် အတ္ထုပ္ပတ္တိများသည် စိတ်နှလုံးများကို ပျော့ပြောင်းစေ သည်။ နူးညံ့သိမ်မွေ့စေသည်။ ထိရောက်ပေသည်။ အကယ်၍ ပုဂ္ဂိုလ်တစ်ဦး၌ လူ့ကျင့်ဝတ်နှင့် အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားမှု အနည်းငယ်မျှပင်ရှိသော် ထိုသို့သောပုဂ္ဂိုလ်တစ်ဦးသည် ကုရ်အာန် ကျမ်းလာ အတ္ထုပ္ပတ္တိများကို ကြားနာပြီး စိတ်နှလုံးမထိခိုက်ဘဲ အလျင်းမနေနိုင်ပေ။

وَلِلّٰهِ غَيْبُ السَّمٰوٰتِ وَالْاَرْضِ
وَاِلَيْهِ يُرْجَعُ الْاَمْرُ كُلُّهٗ
فَاعْبُدْهُ وَتَوَكَّلْ عَلَيْهِ ؕ
وَمَا رَبُّكَ بِغَافِلٍ عَمَّا
تَعْمَلُوْنَ ﴿١٢٣﴾

**၁၂၃။** စင်စစ် သော်ကား မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ မမြင်နိုင်သောအရာများ(ကို စိုးပိုင်ခြင်းနှင့် သိစွမ်းနိုင်ခြင်း) သည် အလ္လာဟ်အရှင်မြတ်၌သာလျှင် ရှိပေသည်။ ထိုမှတစ်ပါး အရေးကိစ္စအလုံးစုံတို့သည် ထိုအရှင်မြတ်အထံသို့သာလျှင် ပြန်လည်ရောက်ခြင်းကို ခံကြရပေမည်။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် ထိုအရှင်မြတ်ကိုသာလျှင် ဆည်းကပ်ကိုးကွယ်ပါလေ။ ၎င်းပြင် အသင်သည် ထိုအရှင်မြတ်အပေါ်၌သာလျှင် ယုံကြည်စိတ်ချလွှဲအပ်ပါလေ။ စင်စစ်သော်ကား အသင်၏အရှင်မြတ်သည် အသင်တို့ကျင့်မူလျက် ရှိကြသည်များကို မေ့လျော့တော်မူမည့် အရှင်မြတ်မဟုတ်ချေ။ ၁

---

① ဆိုလိုသည်ကား တမန်တော်မြတ်သည် ကာဖိရ်၊ မုရှ်ရစ်က်တို့၏ နှောင့်ယှက်မှုများကို ကြည့်၍ စိတ်ပျက်တော်မူရန်မလိုပေ။ တမန်တော်မြတ်သည် မိမိတာဝန်များကိုသာ ကျေပြွန်စွာ ထမ်းဆောင်လျက် ရှိနေတော်မူရပေမည်။ ယင်းကာဖိရ်၊ မုရှ်ရစ်က်တို့၏ပြဿနာကို အလ္လာဟ်အရှင်မြတ်အားသာလျှင် လွှဲအပ် ထားတော်မူရပေမည်။ အဘယ်ကြောင့်ဆိုသော် ထိုအရှင်မြတ်သည် မိုးမြေနှင့်တကွ ကမ္ဘာ့အဝှန်း၌ ဖြစ်ပျက်သမျှသော ကိစ္စအဝဝတို့ကို အကြွင်းမဲ့ သိတော်မူသည်။ ထိုအရှင်မြတ်အဖို့ ဖုံးကွယ်နေသောအရာဟူ၍ အလျှင်းမရှိပေ။ ထို့ပြင်တဝ ကိစ္စအဝဝတို့သည် ထိုအရှင်မြတ်ထံတော်ပါးသို့ ရောက်ရှိရမည်သာဖြစ်သည်။ ထိုအခါ ယင်းကာဖိရ်၊ မုရှ်ရစ်က်တို့သည် ၎င်းတို့၏ မှားယွင်းမှု ကျူးလွန်မှုများကို ကောင်းစွာ သိရှိသွားကြပေလိမ့်မည်။ သို့ဖြစ်ပေရာ တမန်တော်မြတ်သည် စိတ်ရောကိုယ်ပါ အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်၍ပင် နေတော်မူရပေမည်။ ထိုအရှင်မြတ်အားသာလျှင် အစစအရာရာ ယုံကြည်လွှဲအပ်၍ ထားတော်မူရပေမည်။ ထိုအရှင်မြတ်သည် အသင်တို့၏ ဖြူစင်သောအကျင့်အမူများကို လျစ်လျူရှုတော်မူမည် မဟုတ်၊ ထိုအကျင့်အမူများအတွက် လျော်ကန်သင့်မြတ်သော ကုသိုလ်အကျိုးများကို မုချဧကန်မုချချီးမြှင့်တော်မူပေမည်။

# တမန်တော်ယူစွဖ်ကဏ္ဍ

سُوۡرَةُ یُوۡسُفَ

'စူရဟ် ယူစွဖ်' သည် မက္ကာမြို့တော်၌ ကျရောက်ခဲ့သည်။
ဤကဏ္ဍတွင် အာယတ်တော် ၁၁၁ နှင့် ရကူအ်အပိုဒ် ၁၂ အသီးသီးပါရှိသည်။

بِسۡمِ اللّٰهِ الرَّحۡمٰنِ الرَّحِیۡمِ

အစဉ်မပြတ် သနားကြင်နာတော်မူထသော အနန္တကရုဏာတော်ရှင် ဖြစ်တော်မူထသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် (အစပြုပါ၏)။

الٓرٰ ۟

၁။ 'အလစ်ဖ်၊ လာမ်၊ ရာ' [၁]

تِلۡكَ اٰیٰتُ الۡكِتٰبِ الۡمُبِیۡنِ ۟ ①

ဤသည်တို့ကား အလွန်ထင်ရှားသော ကျမ်းဂန်၏ စာပိုဒ်များပင် ဖြစ်ကြပေသတည်း။

اِنَّاۤ اَنۡزَلۡنٰهُ قُرۡءٰنًا عَرَبِیًّا لَّعَلَّكُمۡ تَعۡقِلُوۡنَ ②

၂။ ဧကန်မလွဲ ငါအရှင်မြတ်သည် ယင်းကျမ်းဂန်ကို အသင်တို့နားလည်အံ့သောငှာ (စကားအဖွဲ့အနွဲ့ အသုံးအနှုန်း အလွန်ကောင်းသော) ကုရ်အာန်ကျမ်းတော်မြတ်အဖြစ် အရဗီဘာသာစကားပေဖြင့် ချပေးသနားတော်မူခဲ့၏။ [၂]

---

(၁) 'အလစ်ဖ်၊ လာမ်၊ ရာ'
ဤကဲ့သို့ အနက်အဓိပ္ပာယ် လျှို့ဝှက်ထားသည့် သင်္ကေတအက္ခရာစုကို (حروف مقطعة) ဟုခေါ်သည်။ 'အလစ်ဖ်၊ လာမ်၊ရာ' ဟူသော အက္ခရာစုသည် ကုရ်အာန်ကျမ်းမြတ်တွင် (၅)နေရာ၌လာရှိသည်။ ကြည့်- ကုရ်အာန်(၁၀း၁။ ၁၁း၁။ ၁၂း၁။ ၁၄း၁။ ၁၅း၁။) ကုရ်အာန်ကျမ်းမြတ် (၁၃း၁)တွင် 'အလစ်ဖ်၊ လာမ်မီးမ်၊ ရာ' ဟူ၍လာရှိ၏။

(၂) အရဗီဘာသာစကားပေသည် ဘာသာစကားပေအားလုံးတို့တွင် စကားအကြွယ်အဝဆုံးလည်း ဖြစ်၏။ အပြောင်မြောက်ဆုံးလည်း ဖြစ်၏။ အနက်အဓိပ္ပာယ် အသက်ရောက်ဆုံး၊ အစူးရှဆုံးလည်း ဖြစ်၏။ စာစီစာကုံး အနှုန်းအဖွဲ့တွင်လည်း ဂုဏ်အမြောက်ဆုံးဖြစ်၏။ ထို့အတွက်ကြောင့်လည်း ကမ္ဘာ့တသက် တည်ရှိမည့် ကုရ်အာန်ကျမ်းမြတ်ကို ယင်းအရဗီဘာသာစကားပေဖြင့် ထုတ်ပြန်ချမှတ်ထားတော် မူခြင်းဖြစ်သည်။

တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ကိုယ်တော်တိုင်ပင် အရဗ်မျိုးနွယ်ဝင် ဖြစ်တော်မူပေရာ ဤကမ္ဘာတွင် ကုရ်အာန်ကျမ်းမြတ်၏ အဆုံးအမ ဩဝါဒတော်များကို ဦးစွာပထမ ➤➤

نَحۡنُ نَقُصُّ عَلَيۡكَ أَحۡسَنَ الۡقَصَصِ بِمَآ أَوۡحَيۡنَآ إِلَيۡكَ هَٰذَا الۡقُرۡءَانَ وَإِن كُنتَ مِن قَبۡلِهِۦ لَمِنَ الۡغَٰفِلِينَ ③

၃။ ငါအရှင်မြတ်သည် အသင့်ထံ ဤကုရ်အာန် ကျမ်းတော်မြတ်ကို ထုတ်ပြန်တော်မူခြင်းအားဖြင့် ငါအရှင်မြတ်သည် အသင်၏ရှေ့ဝယ် *အကောင်းဆုံးသော အကြောင်း အတ္ထုပ္ပတ္တိတစ်ခု* ¹ ကို ပြန်၍ ပြောကြားတော်မူလေသည်။ စင်စစ်သော်ကား အသင်သည် ထိုကုရ်အာန် မကျရောက်မီ အလျင်က (ဤအကြောင်း အတ္ထုပ္ပတ္တိကို) အလျင်း မသိသူတစ်ဦးပင် ဖြစ်ခဲ့ပေသတည်း။ ²

---

➤➤ ကြားနာရမည့် လူမျိုးမှာ အရဗ်လူမျိုးပင် ဖြစ်ကြရပေမည်။ ထိုမှတစ်ဆင့် ကမ္ဘာ့လူမျိုးအသီးသီးတို့ထံသို့ ပျံ့နှံ့သွားရပေမည်။ ဤသည့်သဘောကို ( لَعَلَّكُمۡ تَعۡقِلُونَ ) ၌ ညွှန်ပြထားတော်မူသည်။ ဆိုလိုသည်ကား 'အို-အရဗ်အမျိုးသားတို့၊ အသင်တို့၏ ဘာသာစကားပေဖြင့် ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန် ချမှတ်ထားတော်မူခြင်း၏ အကြောင်းများအနက် အကြောင်းတစ်ရပ်မှာ အသင်တို့သည် ဤကုရ်အာန်ကျမ်းမြတ်၏ ရသာအမြိုက်ကို ဦးစွာပထမ ခံစားကြကုန်၊ ထို့နောက် ကမ္ဘာ့အဝှန်းရှိ လူမျိုးအသီးသီးတို့အား ခံစားစေကြကုန်' ဟူ၏။ ဤအကြောင်းနှင့် စပ်လျဉ်း၍ အီဗ်နူကဆီရ်ကျမ်းတွင် အောက်ပါအတိုင်း ဖွင့်ဆိုရေးသားထားသည်။

အမြင့်မြတ်ဆုံးသော ကျမ်းတော်သည် အမြင့်မြတ်ဆုံးသော ဘာသာစကားပေဖြင့် အမြင့်မြတ်ဆုံးသော တမန်တော်မြတ်ထံသို့ အမြင့်မြတ်ဆုံးသော ကောင်းကင်တမန်တော်မှတဆင့် အမြင့်မြတ်ဆုံးသော ဒေသတွင် ကျရောက်လာခဲ့၏။ ထို့ပြင်တစ်ဝ ယင်းကျမ်းမြတ် စတင်ကျရောက်လာခဲ့သည်မှာလည်း အမြင့်မြတ်ဆုံးသော လဖြစ်သည့် ရမသွာန်လမြတ် ဖြစ်ပေသည်။ ဤသို့အားဖြင့် ယင်းကုရ်အာန်ကျမ်းမြတ်သည် အဘက်ဘက်မှ ပြည့်ဝစုံလင်လှ၏။ အီဗ်နူကဆီရ်၊ အ-၂။ စ-၄၆၆။

① အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ချမှတ်တော်မူ၍ အလွန်ကောင်းမွန်သော အတ္ထုပ္ပတ္တိတစ်ရပ်ကို အလွန်ကောင်းမွန်သော အစီအစဉ်ဖြင့် တမန်တော်မြတ်အား ပြောပြတော်မူသည်။ ထိုအတ္ထုပ္ပတ္တိကား အခြားမဟုတ်၊ တမန်တော်ယူစွဖ်(အလိုင်ဟစ္စလာမ်)၏ အတ္ထုပ္ပတ္တိပင် ဖြစ်ပေသည်။

တမန်တော်ယူစွဖ်၏ အတ္ထုပ္ပတ္တိကို ထောက်ရှုခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ် စီရင်သတ်မှတ် ပြဋ္ဌာန်းထားတော်မူသည့် 'တက်ဒီရ်' ကို အဘယ်တစ်စုံတစ်ခုသောအရာကမျှ မပြောင်းလဲနိုင်ကြောင်း အလ္လာဟ် အရှင်မြတ် မြှောက်စားတော်မူလိုသူတစ်ဦးအား ကမ္ဘာ့အဝှန်းသည် မိမိတို့၌ ရှိရှိသမျှသော အစွမ်းသတ္တိများကို အသုံးပြု၍ ဖျက်ဆီးရန် ကြိုးစားသော်လည်း ဖျက်ဆီးနိုင်မည်မဟုတ်ကြောင်း။ ဖွဲ့သတ္တိ၊ တည်ကြည်မှု၊ ကြံ့ခိုင်မှုသည် လောကီ လောကုတ္တရာရေးများတွင် အောင်မြင်မှုသာဖြစ်ကြောင်း၊ မနာလိုစိတ်သည် မိမိကိုယ်ကိုသာ နစ်နာပျက်စီး ဆုံးရှုံးစေကြောင်း။ လူ၏အသိဉာဏ် အမြော်အမြင်သည် အလွန်အဖိုးတန်သော စွမ်းရည်သတ္တိတစ်ခု ဖြစ်ကြောင်း၊ ယင်းစွမ်းရည်သတ္တိဖြင့် လူသည် မြောက်မြားစွာသော အခက်အခဲများကို ကျော်လွှန်နိုင်ကြောင်း၊ မိမိ၏ဘဝ သက်တမ်းကိုလည်း တိုးတက်ကြီးပွား အောင်မြင်စေနိုင်ကြောင်း၊ ကိုယ်ကျင့်တရား ကောင်းမြတ်မှု၊ ကာယိန္ဒြေ ထိန်းသိမ်းမှုသည် မိတ်ဆွေရင်းချာများ၏ မျက်စိ၌မဆိုထားဘိ၊ ရန်သူများ၏ မျက်စိ၌ပင် နောက်ဆုံး ဂုဏ်သရေတင့် တယ်မြတ်နိုးဘွယ် ဖြစ်စေကြောင်းများနှင့် ဤကဲ့သို့သော အခြားမြောက်မြားစွာသော ➤➤

၄။ (ပြန်လည်သတိရပါလေ) တရံရောအခါဝယ် (နဗီတမန်တော်)ယူစွဖ်သည် မိမိဖခမည်းတော် (နဗီတမန်တော် ယအ်ကူဗ်)အား (ဤသို့) ပြောဆိုလျှောက်ထားခဲ့လေသည်။ အို-ခမည်းတော်၊ ကေန်စင်စစ် အကျွန်ုပ်သည် (အိမ်မက်တွင်) *ကြယ်တာရာ (ဂြိုလ်နက္ခတ်)ဆယ့်တစ်လုံးကိုလည်းကောင်း၊ သူရိယနေကိုလည်းကောင်း၊ လစန္ဒာကိုလည်းကောင်း၊* ၁ မိမိအား 'စတ်ဂျ်ဒဟ်' ပျပ်ဝပ်ဦးချလျက် ရှိကြသည်ကို *တွေ့မြင်ခဲ့ရပါသတည်း။* ၂

إِذۡ قَالَ يُوسُفُ لِأَبِيهِ يَٰٓأَبَتِ إِنِّي رَأَيۡتُ أَحَدَ عَشَرَ كَوۡكَبٗا وَٱلشَّمۡسَ وَٱلۡقَمَرَ رَأَيۡتُهُمۡ لِي سَٰجِدِينَ ۝٤

၅။ (ထိုအခါ ခမည်းတော် နဗီတမန်တော်ယအ်ကူဗ်က ဤသို့)ပြန်ကြားခဲ့လေ၏။ အို-ချစ်သား၊ အသင်သည် မိမိအိပ်မက်ကို မိမိညီနောင်များရှေ့တွင် ပြော၍မပြလေနှင့်။ သို့ပြောပြခဲ့ပါလျှင် ၎င်းတို့သည် အသင်နှင့်ဆန့်ကျင်၍အကြံအစည်တစ်ခုခုကို *လျှို့ဝှက်ကြံစည်ကြပေလိမ့်မည်။* ၃ ဧကန်မလွဲ ရှိုင်တွာန် မိစ္ဆာကောင်သည်ကား လူတို့၏ အလွန်ထင်ရှားသော ရန်သူပင် ဖြစ်ချေသတည်း။

قَالَ يَٰبُنَيَّ لَا تَقۡصُصۡ رُءۡيَاكَ عَلَىٰٓ إِخۡوَتِكَ فَيَكِيدُواْ لَكَ كَيۡدًاۖ إِنَّ ٱلشَّيۡطَٰنَ لِلۡإِنسَٰنِ عَدُوّٞ مُّبِينٞ ۝٥

---

➤➤ ကောင်းမွန်သည့် အချက်များ၊ လိုက်နာကျင့်သုံးဘွယ်ရာ စံနမူနာများကို တွေ့ရှိရပေသည်။ ထို့အတွက်ကြောင့်လည်း ဤသည့် အတ္ထုပ္ပတ္တိကို 'အကောင်းမွန်ဆုံးသော အတ္ထုပ္ပတ္တိ' ဟူ၍ အမည်ပေး ကင်ပွန်းတပ်ထားတော်မူခြင်း ဖြစ်ပေသည်။

(၂) ဤကဏ္ဍကို ငါအရှင်မြတ်သည် အသင့်ထံသို့ ထုတ်ပြန်ချမှတ်တော်မမူမီ အလျင် အသင်သည် ဤအတ္ထုပ္ပတ္တိကို အလျင်းမသိခဲ့ချေ။ ဤသည့်အတ္ထုပ္ပတ္တိနှင့် စပ်လျဉ်း၍ အသင်၏စိတ်တွင် အတွေးလည်း မပေါ်ခဲ့ချေ။ အသင်၏နားများကလည်း အလျင်းမကြားဘူးခဲ့ချေ။

ကုရ်အာန်သည် အလ္လာဟ်အရှင်မြတ်ထံမှ ဝဟီဖြင့် ထုတ်ပြန်ချမှတ်တော်မူသော ကျမ်းဂန်ဖြစ်ကြောင်း ဤသည် အထောက်အထားတစ်ရပ်ပင် ဖြစ်သည်။ တဖ်စီရ်အဗ္ဗုစအူဒ်။ အ-၃။ စ-၅၂။

(၁) (رأيت) ဟူသောကြိယာသည် (رؤية) ဟူသော မူရင်းပုဒ်မှ ဆင်းသက်လာသော ကြိယာမဟုတ်၊ (رؤيا) ဟူသော မူရင်းပုဒ်မှ ဆင်းသက်လာသော ကြိယာဖြစ်သည်။ ထို့အတွက် (رأيت) သည် ရိုးရိုးမြင်ခြင်းကို ဆိုလိုသည်မဟုတ်၊ အိမ်မက်တွင် မြင်မက်ခြင်းကိုသာ ဆိုလိုသည်။

(၂) တမန်တော်ယူစွဖ်၌ ဖတူမိကွဲနောင်တော် ၁၀-ဦးနှင့်အတူ မိကွဲညီတော်တစ်ဦး၊ ပေါင်း ၁၁-ဦးရှိသည်၊➤➤

وَكَذَٰلِكَ يَجْتَبِيكَ رَبُّكَ
وَيُعَلِّمُكَ مِن تَأْوِيلِ
الْأَحَادِيثِ وَيُتِمُّ نِعْمَتَهُ
عَلَيْكَ وَعَلَىٰ آلِ يَعْقُوبَ كَمَا
أَتَمَّهَا عَلَىٰ أَبَوَيْكَ مِن قَبْلُ
إِبْرَاهِيمَ وَإِسْحَاقَ ۚ إِنَّ رَبَّكَ
عَلِيمٌ حَكِيمٌ ﴿٦﴾

၆။ ၎င်းပြင်ဤသို့အားဖြင့် (ထိုကဲ့သို့ပင်) အသင့်အားအသင်၏အရှင်မြတ်သည် (နဗီတမန်တော်အဖြစ်ချီးမြှောက်ရန်)ရွေးချယ်တော်မူအံ့၊ ၎င်းပြင် ထိုအရှင်မြတ်သည်အသင့်အား *အိပ်မက်ဒိဗ်စုမ်ကို* [၁] သင်ကြားပို့ချတော်မူအံ့။ ထိုမှတစ်ပါးထိုအရှင်မြတ်သည် မိမိကျေးဇူးတော်ကို ယခင် အသင်၏ဘိုးတော်၊ ဘေးတော်များဖြစ်သော(နဗီတမန်တော်)*အီဗ်ရာဟီမ်အားလည်းကောင်း၊* [၂] (နဗီတမန်တော်)အစ္စဟာက်အားလည်းကောင်း၊ အပြည့်အစုံ ချီးမြှင့်ပေးသနားတော်မူဘိသကဲ့သို့ပင် အသင့်အားလည်းကောင်း၊ *ယအ်ကူဗ်၏သားသမီးများအားလည်းကောင်း၊* [၃] ထိုကျေးဇူးတော်ကို *အပြည့်အစုံ ချီးမြှင့်ပေးသနားတော်မူအံ့၊* [၄] ဧကန်အမှန် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် ဉာဏ်အမြော်အမြင်နှင့် ပြည့်စုံတော်မူသော အရှင်ဖြစ်တော်မူပေသတည်း။

➤➤ တမန်တော်ယူစွဖ်၏ အိမ်မက်တွင် ကြယ် ၁၁ လုံးဟူသည် ထိုညီနောင် ၁၁ ဦးကို ဆိုလိုသည်။ နေနှင့်လ ဟူသည် ဖခင်ကြီးနှင့် မိခင်ကြီးတို့အား ဆိုလိုသည်။ ကြည့်-အီဗ်နူကဆီရ်၊ အ-၁၂။ စ-၁၉။

(၃) လူ့လောကတွင် ဖတူမိကွဲညီနောင်များ၌ များသောအားဖြင့် အချင်းချင်း ဆက်ဆံမှု မပြေပြစ်သည်ကို တွေ့ရှိရတတ်ပေသည်။ တမန်တော်ယူစွဖ်၏ ညီနောင်များ၌ အချင်းချင်း ဆက်ဆံမှုမှာလည်း အဆင်မပြေခဲ့ပေ။ အဘယ်ကြောင့် ယင်းကဲ့သို့ ဖြစ်ခဲ့ရသည့်အကြောင်းရင်းကို အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူပေသည်။

(၁) 'တအ်ဝီလုလ်အဟာဒီဆ်' ၏ အနက်များကို များသောအားဖြင့် အိပ်မက်ဒိဗ်စုမ် ဖတ်ခြင်းဟူ၍ ဖွင့်ဆိုကြသည်။ 'တာဝီလုလ်အဟာဒီဆ်' ဟူသောပုဒ်တွင် အိပ်မက်ဒိဗ်စုမ်သိခြင်း၊ စကားတိုင်း၏ အလိုသဘောကိုသိခြင်း၊ ကိစ္စအဝဝနှင့်စပ်လျဉ်း၍ နောင်ဖြစ်ပေါ်လာမည့် အရေးများကို ချက်ချင်းသိခြင်း၊ အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များတွင် တမန်တော်အပေါင်းတို့၏ သြဝါဒများ အတိတ်လူမျိုးအသီးသီးတို့၏ အတ္ထုပ္ပတ္တိများ ကောင်းကင်ကျ ကျမ်းဂန်များ၌ လာရှိသည့် ဒေသနာတော်များ၏ အနက်သဘောများကိုသိခြင်း ဤသည်တို့သည် ဤပုဒ်တွင် အကျုံးဝင်လေသည်။

(၂) အလ္လာဟ်အရှင်မြတ်သည် တမန်တော် အီဗ်ရာဟီမ်အား နဗီအဖြစ်မိမိ၏ အဆွေတော်အဖြစ်ချီးမြှင့်တော်မူခဲ့၏။ တမန်တော်အီဗ်ရာဟီမ်၏ရန်သူ နမ်ရူဒ်အား ကွပ်မျက်တော်မူခဲ့၏။ တမန်တော်အီဗ်ရာဟီမ်အဖို့ မီးကို ရေဖြစ်စေတော်မူခဲ့၏။ အလ္လာဟ်အရှင်မြတ်သည် တမန်တော် အစ္စဟာက်အား နဗီအဖြစ် ချီးမြှင့်တော်မူခဲ့၏။ တမန်တော်ယအ်ကူဗ်ကဲ့သို့သော သားတော်တစ်ပါးကိုလည်း ပေးတော်မူခဲ့၏။ အစ္စရာအီလီမျိုးနွယ်ဝင် ➤➤

၇။ ဧကန်မလွဲ (နဗီတမန်တော်)ယူစွဖ်နှင့် ထို (နဗီတမန်တော်)ယူစွဖ်၏ နောင်တော်တို့(၏ အကြောင်း အတ္ထုပ္ပတ္တိ)တွင် (အမှန်တရားနှင့် ဉာဏ်ပညာကို လိုလား၍ ရှာဖွေစူးစမ်း) မေးမြန်းသူတို့အဖို့ (များစွာသော) သက်သေလက္ခဏာရပ်များရှိချေသတည်း။ ၁

لَقَدْ كَانَ فِيْ يُوْسُفَ وَإِخْوَتِهٖٓ اٰيٰتٌ لِّلسَّآئِلِيْنَ ۝٧

---

➤➤ နဗီများအားလုံးတို့သည် တမန်တော်ယအ်ကူဗ်၏ အဆက်အနွယ်များ ဖြစ်ကြပေသည်။

⑦ အလ္လာဟ်အရှင်မြတ်သည် တမန်တော်ယအ်ကူဗ်၏ အိမ်သူအိမ်သားများအား လောကီဒုက္ခများမှ ကယ်တင်တော်မူခဲ့သည်။ ထို့ပြင်တဝ တမန်တော်ယအ်ကူဗ်၏ မျိုးနွယ်ဆက်တွင် မြောက်မြားစွာသော တမန်တော်များ၊ ဘုရင်များကို ထွန်းကားစေတော်မူခဲ့၏။

⑥ အလ္လာဟ်အရှင်မြတ်သည် တမန်တော်ယူစွဖ်အား နောင်တမလွန်ဘဝ၏ သုခချမ်းသာများနှင့်တကွ ဤပစ္စုက္ခ၏ သုခချမ်းသာများကို ပေးသနားတော်မူခဲ့သည်။ နဗီ၏ အဖြစ်ကိုလည်း ချီးမြှင့်တော်မူခဲ့သည်။ နိုင်ငံချုပ်မင်း၏ အဖြစ်ကိုလည်း ချီးမြှင့်တော်မူခဲ့ပေသည်။ ဒုက္ခအပေါင်းမှကယ်တင်ပြီး ကိုယ်၏ချမ်းသာမှု စိတ်၏ချမ်းသာမှု များကိုလည်း ချီးမြှင့်တော်မူခဲ့၏။

① တမန်တော်ယူစွဖ်နှင့် နောင်တော်များ၏ အတ္ထုပ္ပတ္တိကို လေ့လာကြည့်လျှင် အောက်ပါ အချက် ၂-ရပ်ကို အထူးတလည် တွေ့ရှိရလေသည်။

(က) တမန်တော်ယူစွဖ်သည် အလွန်နိမ့်ကျသည့်ဘဝမှ အလွန်မြင့်မားသည့် ဘဝသို့ ရောက်ရှိလာခဲ့၏။ တမန်တော်ယူစွဖ်သည် ကလေးဘဝတွင် သိုး၊ ဆိတ်ကျောင်းခဲ့ရ၏။ နောင်တော်များ၏ မလိုမုန်းတီးခြင်းကိုပင် ခံခဲ့ရ၏၊ ကျွန်ဖြစ်ခဲ့ရ၏။ တိုင်းတစ်ပါးသို့ ရောက်ရှိလာခဲ့ရ၏။ အမျိုးသမီးများ၏ ပရိယာယ်မာယာကြောင့် မတရားသဖြင့် ထောင်တွင်းသို့ ရောက်ရှိခဲ့ရ၏။ ထိုသို့သော ဘဝဆိုးများကို ကျော်လွန်၍ နောက်ဆုံးတွင် နဗီအဖြစ် ချီးမြှင့်ခြင်းခံခဲ့ရ၏။ အီဂျစ်နိုင်ငံချုပ်မင်း ဖြစ်လာခဲ့ရ၏။ တိုင်းသူပြည်သားတို့အား အစာခေါင်းပါးခြင်း ကပ်မှ ကယ်တင်နိုင်ခဲ့၏။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင်။

(ခ) ယဟူဒီများသည် တမန်တော်မြတ်အား အစ္စရာအီလီ မျိုးနွယ်ဝင်များအား အီဂျစ်ပြည်သို့ မည်သို့မည်ပုံ ရောက်ရှိလာသည့်အကြောင်းကို အထူးတလည် မေးမြန်းခဲ့ကြ၏။ တမန်တော်မြတ်ကိုယ်တိုင် ဝဟီမရောက်မီ အလျှင် ဤဖြစ်စဉ်သမိုင်းကို အလျှင်း သိတော်မမူခဲ့ပေ။ သို့တစေလည်း တမန်တော်မြတ်သည် အလ္လာဟ် အရှင်မြတ်၏ဝဟီဖြင့် ယဟူဒီအား စ၊လယ်၊ဆုံး တိကျမှန်ကန်စွာ ပြောပြတော်မူခဲ့လေသည်။ ဤသည် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နဗီဖြစ်ခြင်း၏ သက်သေလက္ခဏာတစ်ရပ်ပင်။

ဤအာယတ်တော်တွင် ဤသည်များကို ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။ ဤသည့် အတ္ထုပ္ပတ္တိတွင် တရားရယူဘွယ်ရာ အချက်ကြီးငယ် အမြောက်အမြား ပါရှိပေသည်။ ဤသည့် အတ္ထုပ္ပတ္တိကို ကြားနာရသည့်အခါ အလ္လာဟ်အရှင်မြတ်၏ အနန္တတန်ခိုးတော် ဉာဏ်များကို သိရှိရ၏။ တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ မှန်ကန်မှုကိုလည်း သိရှိရ၏။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်သည် 'အွန်မ္မီ' ဖြစ်တော် မူသည်။ သို့ပါလျက် ယခုကဲ့သို့ တိကျမှန်ကန်သော ရာဇဝင် အတ္ထုပ္ပတ္တိကို ထုတ်ဖော် ပြောကြားတော် မူနိုင်ခဲ့ခြင်းမှာ အလ္လာဟ်အရှင်မြတ်၏ ဝဟီကြောင့်သာလျှင် ဖြစ်နိုင်ပေသည်။

إِذْ قَالُوا لَيُوسُفُ وَأَخُوهُ أَحَبُّ إِلَىٰٓ أَبِينَا مِنَّا وَنَحْنُ عُصْبَةٌ إِنَّ أَبَانَا لَفِى ضَلَٰلٍ مُّبِينٍ ⑧

၈။ တရံရောအခါ ထိုနောင်တော်များက ငါတို့သည် (အားအင်တောင့်တင်းသော) အုပ်စုကြီးတစ်ခုဖြစ်ပါလျက် ယူစွဖ်နှင့် ၎င်း၏ညီသည် ငါတို့၏ဖခင်ကြီးထံ၌ ငါတို့ထက်ပင် ပိုမို၍ ချစ်ခင်ယုယခြင်းခံနေကြရသည်။ [၁] ဧကန်မုချ ငါတို့၏ခမည်းတော်သည် ထင်ရှားစွာသော အထင်အရှား လွဲမှားနေချေပြီဟု [၂] အချင်းချင်း ပြောဆိုကြလေသည်။

ٱقْتُلُوا يُوسُفَ أَوِ ٱطْرَحُوهُ أَرْضًا يَخْلُ لَكُمْ وَجْهُ أَبِيكُمْ وَتَكُونُوا مِنۢ بَعْدِهِۦ قَوْمًا صَٰلِحِينَ ⑨

၉။ (၎င်းတို့အနက် တစ်ဦးက ဤသို့ပြောဆိုအကြံပေးခဲ့လေသည်။) အသင်တို့သည် ယူစွဖ်အားသတ်ပစ်ကြလေကုန်၊ သို့တည်းမဟုတ်၎င်းအား တိုင်းတစ်ပါးသို့ (သွားရောက်)စွန့်ပစ်ခဲ့ကြလေကုန်၊ သို့မှသာလျှင် အသင်တို့၏ခမည်းတော်သည် အသင်တို့ဘက်သို့ပြန်လှည့်၍မျက်နှာသာပေးရပေလိမ့်မည်၊ [၃] ထို့နောက်အသင်တို့သည် (အလ္လာဟ်အရှင်မြတ် အထံတော်၌ မိမိတို့အပြစ်ကိုဝန်ချတောင်းပန်ကာ) ဖြောင့်မှန်သောလူစုပြန်၍ဖြစ်ကြလေကုန်။(လိမ့်မည်။)

---

(၁) ဖခင်ကြီး တမန်တော်ယအ်ကူဗ်သည် ယူစွဖ်နှင့် ၎င်း၏(ဖတူမိတူ)ညီ ဗင်န်ယာမီန်ကို အလွန်ချစ်ခင်မြတ်နိုးလေသည်။ အဘယ်ကြောင့်ဆိုသော် ၎င်းတို့ညီအစ်ကို ၂-ဦးသည် ကျန် ဖတူမိကွဲ နောင်တော်ကြီး ၁၀-ဦးထက် ငယ်ကြပေသည်။ မိခင်မှာ ကွယ်လွန်သေဆုံးနှင့်ပြီးဖြစ်သည့်အတွက် ထိုညီနောင် ၂-ဦးတို့မှာ မိတဆိုးများလည်း ဖြစ်ကြပေသည်။ အထူးသဖြင့် သားတော်ယူစွဖ်သည် နောင်အနာဂါတ်ကာလတွင် အလွန်ကြီးကျယ်မည့်အကြောင်း တမန်တော်တစ်ပါးဖြစ်မည့်အကြောင်းကို ဖခင်ကြီး တမန်တော်ယအ်ကူဖ်သည် မိမိ၏ထိုးထွင်းဉာဏ်ဖြင့်သော်လည်းကောင်း ကြိုတင်သိနှင့်ထား၏။ ထိုမှတစ်ပါး သားတော်ယူစွဖ်၏ အဆင်းလှမှု၊ အချင်းကောင်းမှု၊ အတွင်းအပြင် ပြည့်ဝစုံလင်မှုများသည်လည်း ဖခင်ကြီး၏မေတ္တာစိတ်ကို မိမိဘက်သို့ဆွဲဆောင်လျက်ရှိပေသည်။ သားတော်ယူစွဖ်တို့ ညီနောင် ၂-ဦးအား ဖခင်ကြီးက ပိုမိုချစ်ခင်မြတ်နိုးသည်ကို ကျန်နောင်တော်များသည် မနှစ်သက်ကြပေ။ နောင်တော်များက 'အရေးကိစ္စအဝဝတွင် ငါတို့သာ အသုံးဝင်ကြသည်။ ငါတို့သည် အင်အားကြီးမားသော အုပ်စုကြီးတစ်ခုဖြစ်သည်။ ဖခင်ကြီး အသက်အရွယ် ကြီးပြင်းလာသည့်အခါ ငါတို့သာလျှင် အသုံးဝင်ကြပေမည်။ ယူစွဖ်နှင့် ဗင်န်ယာမီန်သည် ငယ်ရွယ်သော ကလေးများသာဖြစ်ကြပေသည်။

ဖခင်ကြီးသည် ထိုညီနောင် ၂-ဦးတို့အား အားထားနိုင်သည်မဟုတ်၊ ငါတို့သည်သာ ➤➤

قَالَ قَآئِلٌ مِّنْهُمْ لَا تَقْتُلُوْا يُوْسُفَ وَاَلْقُوْهُ فِىْ غَيٰبَتِ الْجُبِّ يَلْتَقِطْهُ بَعْضُ السَّيَّارَةِ اِنْ كُنْتُمْ فٰعِلِيْنَ ⑩

၁၀။ ၎င်းတို့အနက် ပြောဆိုသူတစ်ဦးက (ဤသို့) ပြောဆိုပြန်၏။ (အချင်းတို့) အသင်တို့သည် ယူစွဖ်အား မသတ်ကြပါလေနှင့်၊ သို့ရာတွင် အကယ်၍ အသင်တို့သည် (တစ်စုံတစ်ရာကို မုချ) ပြုလုပ်ကြတော့မည့်သူများ ဖြစ်ကြပါလျှင် အသင်တို့သည် ၎င်းအား ရေတွင်း၏ စောက်နက်ထဲသို့ ပစ်ချကြလေကုန်၊ ၎င်းအား ခရီးသည်စုအနက်မှ တစ်ဦးဦးသည် (ထိုရေတွင်းထဲမှ) ဆယ်ယူသွားပေလိမ့်မည် ဖြစ်သတည်း။ ၁

➤➤ အားထားနိုင်သည်။ သို့ပါလျက် ဖခင်ကြီးသည် ငါတို့ထက်ပိုလျက် ဤညီနောင် ၂-ဦးအားပို၍ ချစ်ခင် မြတ်နိုးနေပေသည်။

ဤကိစ္စတွင် ဖခင်ကြီးသည် မိမိ၏အကျိုးနှင့် မိမိ၏နစ်နာမှုကို မချင့်ချိန်နိုင်ပေ။ အမှားကြီး မှားနေပြီ ဟူ၍ပင် ဝေဖန်ပြောဆိုကြလေသည်။

② ဤအာယတ်တော်တွင် 'ဍွလာလ်' ဟူသော ပုဒ်၏ အလိုသဘောမှာ သာသနာရေးဆိုင်ရာ ယုံကြည်ချက်၌ လမ်းမှားနေခြင်း၊ မိစ္ဆာဒိဋ္ဌိဖြစ်ခြင်းကို ဆိုလိုသည်မဟုတ်။ လောကီရေးဆိုင်ရာ အကျိုးများကို မထောက်ထားခြင်း ကိုသာ ဆိုလိုသည်။

③ ညီတော်ယူစွဖ်နှင့်ပတ်သက်၍ နောင်တော်များ၏ မလိုမုန်းထားမှုသည် တစ်နေ့တခြား ပြင်းထန်လာခဲ့ရာ နောက်ဆုံးတွင် အချင်းချင်း တိုင်ပင်ကြသည်မှာ ယူစွဖ် ရှိနေမျှ ကာလပတ်လုံး ငါတို့သည် ဖခင်ကြီး၏ မျက်နှာသာပေးမှုကို အလျင်း ရရှိကြမည်မဟုတ်၊ ထို့အတွက် ယူစွဖ်ကို တစ်နည်းတစ်ဖုံ ရှင်းပစ်ကြရမည်။ အသင်တို့သည် ယူစွဖ်ကိုသတ်ပစ်ကြ သို့မဟုတ် တိုင်းတစ်ပါးသို့ သွားရောက်ပစ်ခဲ့ကြ။ ယူစွဖ်မရှိလျှင် ဖခင်ကြီးသည် ငါတို့ကိုသာလျှင် မျက်နှာသာပေးရလိမ့်မည်။

နောင်တော်များသည် ဗင်န်ယာမိန်၏ ပြဿနာကို အရေးကြီးလှသည်ဟူ၍ မထင်မှတ်ခဲ့ကြပေ။ ဗင်န်ယာမိန်အား ဖခင်ကြီး၏ချစ်ခြင်းမှာ ယူစွဖ်ကြောင့်ပင်ဖြစ်သည်ဟူ၍ ယူဆခဲ့ကြပေသည်။

① ညီတော် ယူစွဖ်အား မသတ်ဖြတ်ကြရန် ပြောဆိုသူမှာ ယဟူဒါ (Judah) ဖြစ်သည်။ ယဟူဒါ ပြောဆိုလိုသည်မှာ – အသင်တို့သည် ယူစွဖ်အား မသတ်ကြကုန်နှင့်၊ သတ်ဖြတ်ခြင်းသည် အလွန်ဆိုးရွားလှ၏။ အပြစ်အလွန်ကြီး၏။ ငါတို့၏လိုအင်ဆန္ဒသည် ယူစွဖ်ကို မသတ်ဖြတ်ပဲနှင့်လည်း ပြည့်ဝနိုင်သည်။ ငါတို့ သည် ယူစွဖ်ကို ဤနေရာမှ တစ်နည်းတစ်ဖုံ ဖယ်ရှားပစ်ချင်ကြသည်။ ဤကိစ္စအတွက် အလွယ်ဆုံးနည်းမှာ ရပ်ရွာနှင့် ဝေးကွာကမ်းလှမ်းသောနေရာသို့ သွားရောက်၍ ရေတွင်းပျက်တစ်ခုထဲသို့ ယူစွဖ်ကို ပစ်ထားလိုက်ကြ၊ ခရီးသည် တစ်ဦးဦးသည် ရေငင်ရန် လာသည့်အခါ ယူစွဖ်ကိုတွေ့လျှင် ယူဆောင်သွားလိမ့်မည်။ ဤသို့လုပ်ခြင်း အားဖြင့် ငါတို့သည် လူသတ်မှု ကျူးလွန်ရာလည်း ရောက်ကြမည် မဟုတ်၊ ငါတို့၏ အလိုဆန္ဒလည်း ပြည့်သွားပေမည်။

قَالُوا يَا أَبَانَا مَا لَكَ لَا تَأْمَنَّا عَلَىٰ يُوسُفَ وَإِنَّا لَهُ لَنَاصِحُونَ ⑪

၁၁။ (ထို့နောက်) ၎င်းတို့သည် (ဖခမည်းတော်ထံ သွားရောက်ပြီး ဤသို့)ပြောဆိုလျှောက်ထားကြကုန်၏။ အို-ကျွန်ုပ်တို့၏ဖခမည်းတော်၊ ခမည်းတော်သည် ယူစွဖ်နှင့် ပတ်သက်၍ ကျွန်ုပ်တို့အပေါ်၌ *အဘယ်ကြောင့် စိတ်မချပါသနည်း။* ① စင်စစ်သော်ကား ကျွန်ုပ်တို့သည်၎င်းနှင့်ပတ်သက်၍ ကောင်းကျိုးကိုသာ လိုလားသူများ ဖြစ်ကြပါသည်။

أَرْسِلْهُ مَعَنَا غَدًا يَرْتَعْ وَيَلْعَبْ وَإِنَّا لَهُ لَحَافِظُونَ ⑫

၁၂။ (သို့ပါ၍) ခမည်းတော်သည် ယင်းယူစွဖ်အား နက်ဖြန်နံနက် ကျွန်ုပ်တို့နှင့်အတူ ပျော်ပျော်ရွှင်ရွှင် စားသောက် ကစားနိုင်ရန်အလို့ငှာလွှတ်ပါ။ ကျွန်ုပ်တို့သည် ဧကန်အမှန် ၎င်းအား (ဘေးရန်ခပ်သိမ်းတို့မှ ကာကွယ်)စောင့်ရှောက်မည့်သူများပင် ဖြစ်ကြပါသည်။

قَالَ إِنِّي لَيَحْزُنُنِي أَنْ تَذْهَبُوا بِهِ وَأَخَافُ أَنْ يَأْكُلَهُ الذِّئْبُ وَأَنْتُمْ عَنْهُ غَافِلُونَ ⑬

၁၃။ (ထိုအခါ ၎င်းတို့၏ခမည်းတော်က ဤသို့) ဖြေဆိုပြန်ကြားခဲ့လေသည်။ (အို-ငါ၏ချစ်သားတို့) ဧကန်စင်စစ် ငါသည်အသင်တို့ ထိုယူစွဖ်အား ခေါ်ဆောင်သွားခြင်းအားဖြင့်ပူဆွေးရမည်မှာဧကန်မလွဲပင်။ ထိုမှတစ်ပါး အသင်တို့သည် ထိုယူစွဖ်အား သတိမမူ မေ့လျော့နေစဉ်အခိုက် ၎င်းအား ဝံပုလွေကိုက်စားမည်ကိုလည်း ငါသည် စိုးရိမ်မိပေသတည်း။

قَالُوا لَئِنْ أَكَلَهُ الذِّئْبُ وَنَحْنُ عُصْبَةٌ إِنَّا إِذًا لَخَاسِرُونَ ⑭

၁၄။ (ထိုအခါ နောင်တော်များက ဤသို့)လျှောက်ထားခဲ့ကြပြန်၏။ (အို-ဖခမည်းတော်) အမှန်စင်စစ် ကျွန်ုပ်တို့သည် ရင်းနှီးပွန်းတီး အားအင်တောင့်တင်းသောအုပ်စုတစ်စုပင်ဖြစ်ကြပါလျက် အကယ်၍ ထိုယူစွဖ်အား ဝံပုလွေကိုက်စားခဲ့ပါလျှင် ကျွန်ုပ်တို့သည် အမှန်ပင်ပျက်စီးဆုံးပါးသူများသာဖြစ်ကြပါလိမ့်မည်။

---

① ကုရ်အာန်ကျမ်းလာ ဤအာယတ်တော်ကိုထောက်ရှုခြင်းအားဖြင့် နောင်တော်များသည် ယခင်ကလည်း>>

فَلَمَّا ذَهَبُوا بِهِۦ وَأَجْمَعُوٓا أَن
يَجْعَلُوهُ فِى غَيَٰبَتِ ٱلْجُبِّ ۚ
وَأَوْحَيْنَآ إِلَيْهِ لَتُنَبِّئَنَّهُم
بِأَمْرِهِمْ هَٰذَا وَهُمْ
لَا يَشْعُرُونَ ﴿١٥﴾

၁၅။ ထို့နောက် ထိုနောင်တော်တို့သည် ထိုယူစွဖ်
အား ခေါ်ဆောင်သွားကြပြီးလျှင် ၎င်းအားရေတွင်း
၏ စောက်နက်ထဲတွင် ပစ်ချကြရန် တညီတညွတ်
တည်း ပြဋ္ဌာန်းခဲ့ကြသောအခါ ငါအရှင်မြတ်သည်
ထိုယူစွဖ်ထံ (အို-ယူစွဖ်) အသင်သည် (တချိန်တွင်)
၎င်းတို့အား ၎င်းတို့၏ ဤအပြုအမူကို အမှန်ပင်
ထုတ်ဖော်၍ ပြောကြားမည်ဖြစ်၏။ သို့ရာတွင်
(ထိုအချိန်တွင်) ၎င်းတို့သည် အသင်အား သိရှိ၍
မှတ်မိကြ လိမ့်မည် မဟုတ်ကြောင်း အမိန့်တော်
ထုတ်ပြန်တော်မူခဲ့ပေသတည်း။

وَجَآءُوٓ أَبَاهُمْ عِشَآءً
يَبْكُونَ ﴿١٦﴾

၁၆။ ထို့နောက် ယင်းနောင်တော်များသည် ၎င်းတို့
၏ဖခမည်းတော်ထံသို့ ညဥ့်မှောင်ခါစအချိန်တွင်
ငိုကြွေးလျက် (ပြန်)လာခဲ့ကြလေသည်။ [၁]

قَالُوا يَٰٓأَبَانَآ إِنَّا ذَهَبْنَا
نَسْتَبِقُ وَتَرَكْنَا يُوسُفَ
عِندَ مَتَٰعِنَا فَأَكَلَهُ
ٱلذِّئْبُ ۖ وَمَآ
أَنتَ بِمُؤْمِنٍ لَّنَا وَلَوْ كُنَّا
صَٰدِقِينَ ﴿١٧﴾

၁၇။ (ခမည်းတော်ထံသို့ရောက်လတ်သော် ဤသို့)
လျှောက်ထားခဲ့ကြသည်။ အို-ကျွန်ုပ်တို့၏ ဖခမည်း
တော် ဧကန်အမှန်ကျွန်ုပ်တို့သည် ယူစွဖ်အား မိမိတို့
၏ပစ္စည်း(အဝတ်အစား)များ အနီးတွင် (အစောင့်)
ထားခဲ့ပြီး အပြေးပြိုင်ရန် သွားခဲ့ကြပါသည်။ သို့ဖြစ်
သောကြောင့် ထိုယူစွဖ်အား ဝံပုလွေသည် ကိုက်စား
ပစ်ပါသည်။ သို့ရာတွင် ကျွန်ုပ်တို့သည် (မည်မျှပင်)
သစ္စာဝါဒီများဖြစ်ကြသော်လည်း ဖခမည်းတော်မှာ
မူကား ကျွန်ုပ်တို့အား ယုံကြည်မည် မဟုတ်ပါပေ။

---

➤➤ ဖခင်ကြီးထံ ဤသို့ မေတ္တာရပ်ခံခဲ့ကြပြီးကြောင်း ဖခင်ကြီးသည် သားတော်ယူစွဖ်အား ၎င်းတို့နှင့် အတူ ထည့်လိုက်ရမည်ကို စိတ်မချကြောင်း သိရှိရပေသည်။

(၁) ညီတော်အား ရေတွင်းပျက်တစ်ခုထဲသို့ ချခဲ့ကြပြီးနောက် နောင်တော်များသည် ဖခင်ကြီးထံသို့ ပြန်လာခဲ့ကြ၏။ ယင်းသို့ ပြန်လာနေခဲ့ကြသည့်အချိန်မှာပင် မိုးချုပ်သွားသည်လည်းဖြစ်နိုင်၏။ သို့တည်းမဟုတ် နောင်တော်များသည် တမင်သက်သက် အချိန်ဆွဲလျက် မိုးချုပ်မှပင် ပြန်လာခဲ့ကြခြင်းလည်း ဖြစ်နိုင်ပေသည်။➤➤

**(တနည်း)**

ငင်းတို့က (ဖခင်ကြီးထံ၌) လျှောက်ထားခဲ့ကြသည်မှာ အို-ကျွန်တော်တို့၏ဖခင်၊ ဧကန်အမှန်ကျွန်တော်တို့သည် (သူ့ထက်ငါသာအောင်) အချင်းချင်း အပြေးပြိုင်၍လာခဲ့ကြပါသည်။ ငင်းပြင် ယူစုဖ်ကို ကျွန်တော်တို့၏ပစ္စည်း(များ)အနီး၌ ထားခဲ့ကြပါသည်။ သို့ဖြစ်ပေရာ (ရုတ်တရက်) ဝံပုလွေသည် သူ့ကို ကိုက်စားသွားပါသည်။ ကျွန်တော်တို့သည် အဘယ်မျှပင်မှန်ကန်သူများဖြစ်ကြသော်လည်း အသင်(ဖခင်ကြီး)ကား ကျွန်တော်တို့အား ယုံကြည်မည်မဟုတ်ပါ။ (ထာနဝီကိုမှီးသည်။)

وَجَآءُوْ عَلٰى قَمِيْصِهٖ بِدَمٍ كَذِبٍ ۗ قَالَ بَلْ سَوَّلَتْ لَكُمْ اَنْفُسُكُمْ اَمْرًا ۗ فَصَبْرٌ جَمِيْلٌ ۗ وَاللّٰهُ الْمُسْتَعَانُ

**၁၈။** ထို့ပြင် ငင်းတို့သည် ယင်းယူစွဖ်၏အင်္ကျီတွင် မဟုတ်မမှန်သောသွေးများကို (လိမ်းကျံ၍) ယူလာခဲ့ကြလေသည်။ (ထိုအခါ ဖခမည်းတော်က ဤသို့) ပြောဆို ဖြေကြားခဲ့လေသည်။ (အို-ချစ်သားတို့) ထိုသို့အလျင်းမဟုတ် စင်စစ်မှာကား အသင်တို့၏စိတ်နှလုံးသည် အသင်တို့အဖို့ အကြောင်းတစ်ခုကို *ပရိယာယ်ဆင်ပေးခဲ့ခြင်းသာ* [၁] ဖြစ်ပေသည်။

---

➤➤ အဘယ်ကြောင့်ဆိုသော် ငင်းတို့အဖို့ နေ့၏အလင်းရောင်တွင် ဖခင်ကြီးအား မျက်နှာပြရန် မလွယ်ပေ။ ထို့အတွက် ညဉ့်၏အမှောင်၌ ပြန်လာခဲ့ကြခြင်းဖြစ်သည်။ ညဉ့်၏အမှောင်သည် အရှက်ကင်းမဲ့မှု၊ စိတ်ဓါတ်ကြမ်းကြုတ်မှု၊ ဟန်ဆောင်မှုများကို နည်းများမဆို ဖုံးကွယ်ပေးနိုင်ပေသည်။

ပညာရှင်ကြီး အအ်မရှ်က 'ကျွန်ုပ်တို့သည် တမန်တော်ယူစွဖ်၏ နောင်တော်များ၏ ငိုကြွေးသံကို ကြားရပြီးနောက်တွင်မူ လူတစ်ဦးတစ်ယောက်အား မျက်ရည်ကျရုံမျှဖြင့် လူမှန်ဟူ၍ မယူဆနိုင်ပေ' ဟု ပြောဆိုခဲ့လေသည်။ ဤစကားမှန်စွ။

(၁) နောင်တော်များသည် ဆိတ် သို့မဟုတ် သမင်စသည့် တိရစ္ဆာန်တစ်ကောင်ကို သတ်ဖြတ်ပြီး ထိုတိရစ္ဆာန်၏သွေးဖြင့် ညီတော်ယူစွဖ်၏ အင်္ကျီကို လိမ်းကျံ၍ ယူလာခဲ့ကြ၏။ ယင်းသို့ပြုလုပ်ခြင်းမှာ ညီတော်ယူစွဖ်အား ဝံပုလွေကိုက်သွားကြောင်းနှင့် စပ်လျဉ်း၍ သွေးပေနေသောအင်္ကျီကို သက်သေအဖြစ် ဖခင်ကြီးအား တင်ပြနိုင်ရန်အတွက်ပင် ဖြစ်သည်။



عَلٰی مَا تَصِفُوْنَ ⑱

သို့ဖြစ်ပေရာ (ငါ၏အဖို့မှာ) သည်းခံခြင်းသည်သာ ကောင်းမြတ်ပေတော့၏။ ထို့ပြင် အလ္လာဟ်အရှင်မြတ်အထံတော်၌သာလျှင် အသင်တို့ လုပ်ကြံပြောပြကြသော အကြောင်းနှင့် စပ်လျဉ်း၍ ကူညီစောင်မတော်မူရန် တိုးလျှိုးတောင်းပန်အသနားခံပြီး ဖြစ်ချေသတည်း။ (တနည်း) အလ္လာဟ်အရှင်မြတ်သည်ပင် ကူညီတော်မူသည် ဖြစ်ပါစေသတည်း။

وَجَآءَتْ سَيَّارَةٌ فَاَرْسَلُوْا وَارِدَهُمْ فَاَدْلٰى دَلْوَهٗ ؕ قَالَ يٰبُشْرٰى هٰذَا غُلٰمٌ ؕ وَاَسَرُّوْهُ بِضَاعَةً ؕ وَاللّٰهُ عَلِيْمٌۢ بِمَا يَعْمَلُوْنَ ⑲

၁၉။ ထို့နောက် ခရီးသည်တစ်စုသည် (ထိုရေတွင်းရှိရာသို့) ရောက်ရှိလာခဲ့လေသည်။ တစ်ဖန် ထိုခရီးသည်တစ်စုသည် မိမိတို့၏ရေခင်သူအား (ထိုရေတွင်းမှရေခင်ရန် စေလွှတ်ခဲ့ကြလေသည်။ သို့ဖြစ်ပေရာ ထိုရေခင်သူသည် (ရေတွင်း၌) မိမိရေပုံးကို ချခဲ့လေသည်။ (ထို့နောက် ယူစွဖ်ကို မြင်လေသော်) ထိုရေခင်သူက (ခရီးသည်တစ်စုအား ဤသို့ ဝမ်းသာအားရစွာ ဟစ်အော်၍) အို-(အချင်းတို့) ဤသည်တွင် (အလွန်ချောလှသော)လုလင်ပျိုတစ်ဦး (တွေ့ရှိရပေရာ) အလွန်ဝမ်းမြောက်ဖွယ်ပင် ဖြစ်ပေသည်တကားဟု ပြောဆိုခဲ့လေသည်။ ထို့နောက် ယင်းခရီးသည်တစ်စုသည် ထိုယူစွဖ်အား ရောင်းကုန်ဝယ်ကုန်အဖြစ် လျှို့ဝှက်စွာထားရှိခဲ့ကြလေသည်။

➤➤ ဖခင်ကြီးသည် ခါနန်ပြည်၌ထိုင်လျက် အီဂျစ်မှ သားတော်ယူစွဖ် အင်္ကျီ၏ အမွှေးအနံ့ရရှိခဲ့သေးပေရာ တိရစ္ဆာန်၏သွေးကို သားတော်ယူစွဖ်၏သွေး ဟူ၍ အဘယ်သို့လျှင် ယုံမှားသံသယ ဖြစ်နိုင်အံ့နည်း။ သို့အတွက်လည်း ဖခင်ကြီးက သားကြီးများ၏ စကားကိုကြားလျှင်ကြားခြင်း ‘ဤသို့မဟုတ် ဤသည် အသင်တို့၏ လုပ်ဇာတ်သာဖြစ်သည်’ ဟု ငြင်းဆိုခဲ့လေသည်။

တချို့တဖ်စီရ်ကျမ်းတွင် လာရှိသည်မှာ ဖခင်ကြီးသည် သားကြီးများပြကြသည့် သွေးပေနေသော အင်္ကျီကိုကြည့်၍ သြော်-ဝံပုလွေသည် အလွန်တရာမှ သနားကြင်နာလှပေသည်။ စနစ်ဖယားလည်း ရှိလှပေသည်။ အဘယ်ကြောင့်ဆိုသော် ထိုဝံပုလွေသည် ယူစွဖ်ကို ကိုက်ဆွဲသွားသော်လည်း သွေးပေနေသော အင်္ကျီကိုမူ စနစ်တကျ ကောင်းမွန်စွာ ချွတ်၍ ထားခဲ့ပေသည်ဟု ပြောကြားတော်မူခဲ့လေသည်။

သို့ရာတွင် အလ္လာဟ် အရှင်မြတ်မှာမူကား ၎င်းတို့ ပြုမူလျက်ရှိသည်တို့ကို ကောင်းမွန်စွာ သိရှိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူခဲ့ပေသတည်း။

وَشَرَوْهُ بِثَمَنٍ بَخْسٍ دَرَاهِمَ مَعْدُودَةٍ ۚ وَكَانُوا فِيهِ مِنَ الزَّاهِدِينَ ⑳

၂၀။ ထို့နောက် ထို နောင်တော်များသည် ထို ယူစွဖ်အား အနည်းငယ်မျှသော အဖိုး ဒစ်ရ်ဟမ် ငွေဒင်္ဂါးများဖြင့် ရောင်းချခဲ့ကြလေသည်။ အမှန်မှာ မူကား၎င်းတို့သည် ယင်းယူစွဖ်အား မလိုလားသူများပင် ဖြစ်ခဲ့ကြကုန်သတည်း။

وَقَالَ الَّذِي اشْتَرَاهُ مِنْ مِصْرَ لِامْرَأَتِهِ أَكْرِمِي مَثْوَاهُ عَسَىٰ أَنْ يَنْفَعَنَا أَوْ نَتَّخِذَهُ وَلَدًا ۚ وَكَذَٰلِكَ مَكَّنَّا لِيُوسُفَ فِي الْأَرْضِ وَلِنُعَلِّمَهُ مِنْ تَأْوِيلِ الْأَحَادِيثِ ۚ وَاللَّهُ غَالِبٌ عَلَىٰ أَمْرِهِ وَلَٰكِنَّ أَكْثَرَ النَّاسِ لَا يَعْلَمُونَ ㉑

၂၁။ အီဂျစ်ပြည်မှ ထိုယူစွဖ်အား ဝယ်သူက [၁] မိမိဇနီးအား 'အသင်သည် ထိုယူစွဖ်ကို ဂုဏ်ရှိစွာ ဖြင့်ထားပါလေ၊ ၎င်းသည် ကျွန်ုပ်တို့အား အကျိုးပေး ကောင်းပေးပါလိမ့်မည်။ သို့မဟုတ် ကျွန်ုပ်တို့သည် ၎င်းအား သားအဖြစ် မွေးစားထားကြမည်ဟု ပြောလေသည်။ ၎င်းပြင် ဤကဲ့သို့ပင် ငါအရှင်မြတ်သည် ယူစွဖ်အား (ထို) တိုင်းပြည်၌ နေရာပေးတော်မူခဲ့လေသည်။ [၂] ၎င်းပြင် ငါအရှင်မြတ်သည် ထိုယူစွဖ်အား စကားများ၏ အနက်သဘောကို သင်ကြားပြသတော်မူရန် အလို့ငှာဖြစ်သည်။ ၎င်းပြင် အလ္လာဟ် အရှင်မြတ်သည် မိမိ၏ကိစ္စ(အဝဝ)ကို နိုင်နင်းတော်မူသောအရှင်မြတ်ဖြစ်သည်။ သို့ရာတွင် လူသားတို့ အနက် အများစုသည် မသိကြပေ။ [၃]

---

(၁) အဆိုပါကုန်သည်များသည် ညီတော်ယူစွဖ်အား ယူဆောင်၍ အီဂျစ်သို့ ရောက်ရှိလာကြပြီး ကျွန်အဖြစ်နှင့် ရောင်းစားခဲ့ကြလေသည်။ ညီတော်ယူစွဖ်အား ဝယ်ယူလိုက်သော ပုဂ္ဂိုလ်မှာ အီဂျစ်ပြည်အစိုးရ၏ ရာထူးဌာနန္တရရှင် တစ်ဦးဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ်တွင် ယင်းပုဂ္ဂိုလ်၏ ဘွဲ့နာမကို 'အဇိဇ်' ဟု သုံးနှုန်းထားတော်မူပေသည်။

(၂) အလ္လာဟ်အရှင်မြတ်သည် တမန်တော်လောင်း ယူစွဖ်အား ရေတွင်းထဲမှ ကယ်တင်တော်မူသကဲ့သို့ပင် ယခုတစ်ဖန် အီဂျစ်ပြည် အမတ်ကြီး အဇီဇ်၏ တိုက်ဂေဟာတွင် ဂုဏ်ရှိစွာဖြင့် နေရာပေးတော်မူလေသည်။

(تاويل الاحاديث) ဟူသော ပုဒ်၏ အလိုသဘောကား ကျယ်ဝန်းလှ၏။ အိပ်မက်ဒိဗ်ခုမ်ကိုသာ ဆိုလိုသည် မဟုတ်၊ ယင်းပုဒ်တွင် ကျမ်းကျင်မှု၊ စီမံအုပ်ချုပ်မှု အားလုံးလည်း အကျုံးဝင်ပေသည်။ ➤➤

၂၂။ ထိုနောက် ယင်းယူစွဖ်သည် မိမိ ရင့်သန်သောအရွယ်သို့ ရောက်လတ်သော် ငါအရှင်မြတ်သည် ထိုယူစွဖ်အား စိုးမိုး အုပ်ချုပ်မှုကိုလည်းကောင်း၊ အသိပညာကိုလည်းကောင်း၊ *ချီးမြှင့်ပေးသနားတော်မူခဲ့လေသည်။* [1] စင်စစ်သော်ကား ငါအရှင်မြတ်သည် ကောင်းမြတ်သော သီလရှင်တို့အား ဤနည်းအတိုင်းပင် အကျိုးကျေးဇူးပေးတော်မူပေသတည်း။

وَلَمَّا بَلَغَ أَشُدَّهُۥٓ ءَاتَيْنَٰهُ حُكْمًا وَعِلْمًا ۚ وَكَذَٰلِكَ نَجْزِى ٱلْمُحْسِنِينَ ﴿٢٢﴾

၂၃။ ထို့နောက် အကြင်မိန်းမသည် ယင်းယူစွဖ်အား ၎င်း၏စိတ်သဘောနှင့်ဆန့်ကျင်ကာ *ချော့မော့၍ မြှူဆွယ်ခဲ့လေသည်။* [2] ယင်းယူစွဖ်သည် ထိုမိန်းမ၏အိမ်တွင် (နေထိုင်လျက်ရှိခဲ့၏။) ၎င်းပြင် ထိုမိန်းမသည် တံခါးများကို (လုံခြုံစွာ) ပိတ်၍ (ယူစွဖ်အား)လာပါလေ၊ (ကျွန်ုပ် အသင့်အဖို့ အသင့်ရှိနေပြီ)ဟု ပြောဆို(ဖိတ်ခေါ်)ခဲ့လေသည်၊

وَرَٰوَدَتْهُ ٱلَّتِى هُوَ فِى بَيْتِهَا عَن نَّفْسِهِۦ وَغَلَّقَتِ ٱلْأَبْوَٰبَ وَقَالَتْ هَيْتَ لَكَ ۚ قَالَ مَعَاذَ ٱللَّهِ ۖ إِنَّهُۥ رَبِّىٓ أَحْسَنَ

➤➤ တမန်တော်လောင်း ယူစွဖ်သည် အမတ်ကြီးအဇီဇ်၏ တိုက်ဂေဟာသို့ ရောက်ရှိလာခဲ့ခြင်းမှာ နောင်သော် တစ်ချိန်တွင် တမန်တော်လောင်း ယူစွဖ်သည် အီဂျစ်နိုင်ငံချုပ်မင်း ဖြစ်၍ တိုင်းပြည်ကို စီမံအုပ်ချုပ်ရန် နှင့် အစ္စရာအီလီ မျိုးနွယ်ဝင်များအား အီဂျစ်ပြည်၌ နေရာချထားရန်အတွက် ရှေ့ပြေးအကြောင်းများ အခြေခံများပင် ဖြစ်ကြပေသည်။

(၃) နောင်တော်များသည် ညီတော်ယူစွဖ်အား အမျိုးမျိုး ဖိနှိပ်လိုကြ၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် အထွတ်အထိပ်သို့ ပို့ဆောင်တော်မူလို၏။ ပို့ဆောင်တော်မူလိုက်၏။ အလ္လာဟ်အရှင်မြတ်သည် မိမိပြုတော်မူလိုသော ကိစ္စအဝဝကို နိုင်နင်းစွာ ပြုလုပ်စီရင်တော်မူသည်သာ ဖြစ်သည်။ ဤသည့်အချက်ကို လူသားတို့အနက် အများစုကြီးမှာ ဉာဏ်အမြော်အမြင် နည်းပါးမှုကြောင့် မသိမြင်နိုင်ကြပေ။

(၁) တမန်တော်လောင်း ယူစွဖ်၏ အားလုံးသော (အားအင်များ) စွမ်းရည်သတ္တိများသည် ရင့်ကျက်လာသောအခါ အလ္လာဟ်အရှင်မြတ်သည် တမန်တော်လောင်း ယူစွဖ်အား အလွန်ကြီးမားသော စိုးမိုးအုပ်ချုပ်မှုနှင့် အသိပညာကို ချီးမြှင့်တော်မူလိုက်လေသည်။ ယင်းသို့ ချီးမြှင့်တော်မူခြင်းခံရသည့်အချိန်မှစ၍ တမန်တော်ယူစွဖ်သည် အလွန်ခက်ခဲနက်နဲသော အရေးကိစ္စများကို ဖြေရှင်းပေးနိုင်ခဲ့၏။ လူသားတို့အချင်းချင်း ဖြစ်ပွားနေသော ပြဿနာများကိုလည်း ကောင်းမွန်စွာ ဖြေရှင်းပေးနိုင်ခဲ့၏။ သာသနာရေးဆိုင်ရာ နက်နဲသော ပြဿနာများကိုလည်း ပိုင်နိုင်စွာ သိနားလည်နိုင်ခဲ့၏။ ပြောဟောသည့်အတိုင်း လက်တွေ့လည်း ပြုလုပ်ပြနိုင်ခဲ့၏။ သူမိုက် သူယုတ်တို့၏ အကျင့်အမူများကို ဝေးစွာရှောင်ကြဉ်ခဲ့၏။ သာသနာရေးဆိုင်ရာ ပညာရပ်များကို ကောင်းစွာကျွမ်းကျင်ခဲ့၏။ အထူးသဖြင့် အိပ်မက် ဒိဗ်စမ်ကို အထူးတတ်ကျွမ်းခဲ့၏။

مَثْوَايَ ۚ إِنَّهُ لَا يُفْلِحُ الظَّالِمُونَ ﴿٢٣﴾

(ထိုအခါ) ယင်းယူစွဖ်က (ဤသို့)ပြောဆို (ငြင်းဆန်) ခဲ့လေသည်။ (ကျွန်ုပ် ဤပြစ်မှုကို ကျူးလွန်ခြင်းမှ ကင်းလွတ်ရန်) အလ္လာဟ်အရှင်မြတ်၏အကာအကွယ်ကို ယူလိုပါသည်။ ဧကန်စင်စစ် ထိုအရှင်မြတ်သည် ကျွန်ုပ်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသည်။ ထိုအရှင်မြတ်သည်ကျွန်ုပ်၏နေရာထိုင်ခင်းကို ကောင်းမွန်စွာပြုလုပ်ပေးသနားတော်မူခဲ့လေသည်။ ဧကန်အမှန် မတော်မတရား ကျူးလွန်သောသူတို့သည် အောင်မြင်ကြသည်မဟုတ်ပေ။

وَلَقَدْ هَمَّتْ بِهِ ۖ وَهَمَّ بِهَا لَوْلَا أَن رَّأَىٰ بُرْهَانَ رَبِّهِ ۚ كَذَٰلِكَ لِنَصْرِفَ عَنْهُ السُّوءَ وَالْفَحْشَاءَ ۚ إِنَّهُ مِنْ عِبَادِنَا

၂၄။ ထို့ပြင် မလွဲဧကန် ထိုမိန်းမသည် ယင်းယူစွဖ်နှင့်ဆက်ဆံရန် ယတိပြတ် စိတ်ပြဋ္ဌာန်းခဲ့လေသည်။ အမှန်သော်ကားအကယ်၍သာထိုယူစွဖ်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ သက်သေ *လက္ခဏာတော်ကိုမတွေ့မမြင်ခဲ့ရပါလျှင်* [၃] ၎င်းသည်လည်း ထိုမိန်းမနှင့်ဆက်ဆံရန်ကြံရွယ်ခဲ့ပေအံ့၊

---

(၂) အမတ်ကြီး အဇီဇ်နှင့် ကြင်ရာ ဇလေခါတို့သည် တမန်တော်ယူစွဖ်အား မိမိတို့၏ တိုက်ဂေဟာ၌ ကောင်းစွာထားရှိခဲ့ကြ၏။ ထိုဇနီးမောင်နှံ ၂-ဦးတို့၌ သားသမီးတစ်ဦးတစ်ယောက်မျှ မရှိခဲ့ပေ။ တမန်တော်ယူစွဖ်ကို ကောင်းစွာထားရှိရန်အတွက် အမတ်ကြီးအဇီဇ်က မိမိကြင်ရာအား 'ငါတို့သည် သူ့ကို သားအဖြစ်မွေးစားထားကြမည်။' ဟူ၍လည်း ပြောဆိုခဲ့၏။ ဤစကားကို ထောက် ရှုခြင်းအားဖြင့် တမန်တော်ယူစွဖ်သည် အမတ်ကြီး အဇီဇ်၏ တိုက်ဂေဟာသို့ ရောက်ရှိခဲ့သည့် အချိန်တွင် ကလေးဘဝ၌ပင် ရှိသေးကြောင်း ကောင်းစွာသိရှိရပေသည်။

တမန်တော်ယူစွဖ်သည် အရွယ်ရောက်၍ လှပလာခဲ့သည့်အခါ၊ ဇလေခါသည် တမန်တော် ယူစွဖ်အား အချစ်ကြီးချစ်၍ မတရားဆက်ဆံရန် မြူဆွယ်ခဲ့လေသည်။

(၃) 'ဗုရ်ဟာန်' ဟူသည် အမြဲတစေ မှန်ကန်သော အခိုင်မာဆုံးသော သက်သေလက္ခဏာတော်ကို ဆိုလိုသည်။ ရာဃိဗ်။

ဤအာယတ်တော်တွင် တမန်တော် ယူစွဖ်(အလိုင်ဟစ္စလာမ်)သည် မိမိအရှင်သခင်၏ သက်သေလက္ခဏာတော်ကို အကယ်၍သာ မတွေ့မမြင်ခဲ့ရသော် စိတ်နောက်ကိုယ်ပါ ဖြစ်သွားခဲ့ပေမည်၊ ဟူ၍ပါရှိ၏။ ယင်းသည့် သက်သေလက္ခဏာတော်ကား အဘယ်နည်း။

➤➤

الْمُخْلَصِينَ ﴿٢٤﴾

ငါအရှင်မြတ်သည် (သာမည) မကောင်းမှုများကိုလည်းကောင်း၊ အလွန် စက်ဆုပ်ဖွယ်ရာဖြစ်သော အမှုကိစ္စများကိုလည်းကောင်း၊ ထိုယူစွဖ်နှင့် ကင်းဝေးစေတော်မူခြင်းငှာ၊ ဤအတိုင်းပင် ပြုလုပ်တော်မူခဲ့လေသည်။ ဧကန်စင်စစ်ထိုယူစွဖ်သည် ငါအရှင်မြတ် ရွေးချယ်ထားတော်မူသော အစေတော်များတွင် အပါအဝင် ဖြစ်ချေသတည်း။

وَاسْتَبَقَا الْبَابَ وَقَدَّتْ قَمِيصَهُ مِنْ دُبُرٍ وَأَلْفَيَا سَيِّدَهَا لَدَا الْبَابِ ۚ قَالَتْ مَا جَزَاءُ مَنْ أَرَادَ بِأَهْلِكَ سُوءًا إِلَّا أَنْ يُسْجَنَ أَوْ عَذَابٌ أَلِيمٌ ﴿٢٥﴾

၂၅။ ထိုနောက် ၎င်းတို့နှစ်ဦးသည် တံခါးရှိရာသို့ (ရှေ့ရှုနောက်) ပြေးခဲ့ကြလေသည်။ ၎င်းပြင် ထိုမိန်းမသည် ယင်းယူစွဖ်၏အင်္ကျီကို နောက်မှ ဆုတ်ပစ်ခဲ့လေသည်။ ထို့နောက် ၎င်းတို့နှစ်ဦးသည် တံခါးဝ၌ ထို မိန်းမ၏ခင်ပွန်းနှင့် တွေ့ရှိခဲ့လေသည်။ (ထိုအခါ) ယင်းမိန်းမက (ဤသို့)ပြောဆိုခဲ့လေသည်။ အသင်၏ အိမ်သူအိမ်သားအား မကောင်းကြံသူ၌ အကျဉ်းချထားခြင်းခံရသည်မှတစ်ပါး၊ သို့မဟုတ် ပြင်းပြနာကျင်ဖွယ်ဖြစ်သောပြစ်ဒဏ်ပေးခြင်း(ကို ခံရသည်) မှတစ်ပါး၊ မည်သည့်ပြစ်ဒဏ်ရှိပါဦးမည်နည်း။

قَالَ هِيَ رَاوَدَتْنِي عَنْ نَفْسِي وَشَهِدَ شَاهِدٌ مِنْ أَهْلِهَا

၂၆။ (ထိုအခါ) ယင်းယူစွဖ်က 'ဤမိန်းမသည် သာလျှင် ကျွန်ုပ်အား ကျွန်ုပ်၏စိတ်သဘောနှင့် ဆန့်ကျင်ကာ ချော့မော့ မြှူဆွယ်ခဲ့လေသည်' ဟု ပြောဆိုခဲ့လေသည်။

>> က။ ဤအာယတ်တော်တွင် ပါရှိသည့် "သက်သေလက္ခဏာတော်" ဟူသည်ကား ကာမေသု မိစ္ဆာစာရကံ ကျူးလွန်ခြင်းသည် ဟရာမ်ဖြစ်ကြောင်း၊ အလွန်စက်ဆုပ်ရွံရှာဖွယ်ဖြစ်ကြောင်းနှင့် စပ်လျဉ်း၍ အလ္လာဟ် အရှင်မြတ်က တမန်တော် ယူစွဖ်အား ချီးမြှင့်ထားတော်မူခဲ့သော မျက်မြင်ကိုယ်တွေ့တမျှဖြစ်သော ယုံကြည်ချက် သက်သေလက္ခဏာတော်ကို ဆိုလိုသည်။

ခ။ "သက်သေလက္ခဏာတော်" ဟူသည် တမန်တော်ယူစွဖ်ကိုယ်တိုင်က ဇလေခါအား အလိုဆန္ဒကို မဖြည့်စွမ်းနိုင်ကြောင်း ငြင်းပယ်ရာတွင် တင်ပြခဲ့သည့် အကြောင်းပြချက်ကိုပင် ဆိုလိုသည်။ ယင်းသည့် အကြောင်းပြချက်သည် ကုရ်အာန် (၁၂း၂၃)တွင် ( قَالَ مَعَاذَ اللَّهِ إِنَّهُ رَبِّي أَحْسَنَ مَثْوَايَ إِنَّهُ لَا يُفْلِحُ الظَّالِمُونَ ) ဟူ၍လာရှိသည်။

إِنْ كَانَ قَمِيصُهُۥ قُدَّ مِن قُبُلٍ فَصَدَقَتْ وَهُوَ مِنَ ٱلْكَٰذِبِينَ ٢٦

၎င်းပြင် ယင်းမိန်းမ၏ ဆွေမျိုးများအနက်မှ သက်သေတစ်ဦးသည် (ဤသို့) သက်သေခံခဲ့လေသည်။ အကယ်၍ ထိုယူစွဖ်၏အင်္ကျီမှာ ရှေ့မှစုတ်ပြဲ၍နေသည်ဖြစ်မူ ထိုမိန်းမသည် မှန်ကန်စွာပြောဆိုခဲ့သည်ဖြစ်သည်။ ၎င်းပြင် ယင်းယူစွဖ်သည် မုသားပြောဆိုသူတစ်ဦး ဖြစ်ပေသတည်း။

وَإِنْ كَانَ قَمِيصُهُۥ قُدَّ مِن دُبُرٍ فَكَذَبَتْ وَهُوَ مِنَ ٱلصَّٰدِقِينَ ٢٧

၂၇။ သို့ရာတွင် အကယ်၍သာ ထိုယူစွဖ်၏အင်္ကျီသည် နောက်မှစုတ်ပြဲ၍နေသည်ဖြစ်ပါမူ၊ ယင်းမိန်းမသည် မုသားပြောဆိုခဲ့သည်ဖြစ်သည်။ ၎င်းပြင် ထိုယူစွဖ်မှာမူကား မှန်ကန်စွာ ပြောဆိုသူတစ်ဦးပင် ဖြစ်ချေသတည်း။

فَلَمَّا رَءَا قَمِيصَهُۥ قُدَّ مِن دُبُرٍ قَالَ إِنَّهُۥ مِن كَيْدِكُنَّ ۖ إِنَّ كَيْدَكُنَّ عَظِيمٌ ٢٨

၂၈။ ထို့နောက် (ယင်းမိန်းမ၏ခင်ပွန်းသည်) ထိုယူစွဖ်၏အင်္ကျီမှာနောက်မှစုတ်ပြဲ၍နေသည်ကို တွေ့မြင်လတ်သော် 'ဤသည်အသင်မိန်းမတို့၏ စဉ်းလဲဉာဏ်သာဖြစ်သည်။ အသင်တို့၏ စဉ်းလဲဉာဏ်သည် ကြီးမားလှဘိ၏တကား'ဟု ပြောဆိုခဲ့လေသတည်း။

يُوسُفُ أَعْرِضْ عَنْ هَٰذَا ۚ وَٱسْتَغْفِرِى لِذَنۢبِكِ ۖ إِنَّكِ كُنتِ مِنَ ٱلْخَاطِـِٔينَ ٢٩

၂၉။ (ထို့နောက် ဆက်လက် ပြောဆိုခဲ့ပြန်သည်မှာ) အို-ယူစွဖ်၊အသင်သည် ဤသည်ကို လျစ်လျူရှုကာ လွှဲရှောင်၍သွားလော့။ ထို့ပြင် (အို-မိန်းမ)သင်သည် မိမိပြစ်မှုကို (ဝန်ချတောင်းပန်၍)လွတ်ငြိမ်းချမ်းသာခွင့်တောင်းခံလော့။ ဧကန်မလွဲ အသင်မသည် ပြစ်မှုကျူးလွန်သူတစ်ဦး ဖြစ်ချေသတည်း။ (ဟုပြောဆိုခဲ့လေ၏။)

وَقَالَ نِسْوَةٌ فِى ٱلْمَدِينَةِ

၃၀။ ၎င်းပြင် မြို့တွင်း၌ ရှိသော အချို့မိန်းမများသည် (မာယာဆင်၍ ဤသို့ ပြစ်တင်) ပြောဆိုကြကုန်၏။

امْرَاَتُ الْعَزِيْزِ تُرَاوِدُ فَتٰىهَا عَنْ نَّفْسِهٖ ۚ قَدْ شَغَفَهَا حُبًّا ۗ اِنَّا لَنَرٰىهَا فِيْ ضَلٰلٍ مُّبِيْنٍ ﴿٣٠﴾

အဇိဇ်၏ကြင်ရာသည် မိမိကျွန်ကို ၎င်း၏စိတ်သဘောနှင့် ဆန့်ကျင်ပြီး ချော့မော့ မြူဆွယ်နေလေသည်။ ဧကန်စင်စစ် ထိုကျွန်သည် ၎င်း၏စိတ်နှလုံးကို ချစ်မေတ္တာအားဖြင့် ဖုံးလွှမ်းလျက် ရှိနေပေသည်။ ဧကန်အမှန် ကျွန်ုပ်တို့သည် ယင်းအဇိဇ်၏ကြင်ရာအား လွဲချော်မှောက်မှားမှု၌ (ကျဆင်းနေသည်ကို) တွေ့မြင်ကြရပေသတည်း။

فَلَمَّا سَمِعَتْ بِمَكْرِهِنَّ اَرْسَلَتْ اِلَيْهِنَّ وَاَعْتَدَتْ لَهُنَّ مُتَّكَاً وَّاٰتَتْ كُلَّ وَاحِدَةٍ مِّنْهُنَّ سِكِّيْنًا وَّقَالَتِ اخْرُجْ عَلَيْهِنَّ ۚ فَلَمَّا رَاَيْنَهٗۤ اَكْبَرْنَهٗ وَقَطَّعْنَ

**၃၁။** ထို့နောက် ယင်းအဇိဇ်၏ကြင်ရာသည် ထိုမိန်းမတို့၏ ဥာဏ်ဆင်မှုကို [၁] ကြားသိရလေသောအခါ ၎င်းတို့အား (မိမိတို့အိမ်သို့ ညည့်ခံကျွေးမွေးရန်) ဖိတ်ခေါ်ခဲ့လေသည်။ ထို့ပြင် ၎င်းတို့အဖို့ (သိုက်မြိုက် တင့်တယ်စွာ ထိုင်နိုင်ကြရန်) မှီအုံးများကို (ခင်း၍)အဆင့်ဆင့် ပြင်ဆင်ထားခဲ့လေသည်။ ထို့ပြင် ယင်း မိန်းမများအနက် အသီးသီးအား ဓားတစ်ချောင်းစီပေးပြီးနောက်(ယူစွဖ်အား)အသင်သည် ဤမိန်းမတို့၏ရှေ့သို့ ထွက်ခဲ့လော့ဟု ပြောဆိုခဲ့လေသည်။

---

(၁) ဇလေခါအား မြို့တွင်းရှိ အချို့အမျိုးသမီး၏ ကဲ့ရဲ့ပြစ်တင်ပြောဆိုခြင်းကို 'မက်ရ်' ပရိယာယ်ဟူ၍ ဤအာယတ်တော်တွင် သုံးနှုန်းထားတော်မူခြင်းမှာ ယင်းအမျိုးသမီးများသည် ထိုသည့် စကားရပ်ကို ပရိယာယ်ဖြင့် လိမ်လည်လှည့်ဖြား ပြောဆိုသောသူများကဲ့သို့ ပုန်းလျှိုးကွယ်လျှို ပြောဆိုခဲ့ကြခြင်းကြောင့်ပင် ဖြစ်သည်။ ယင်းအမျိုးသမီးများသည် ဇလေခါအား ကဲ့ရဲ့ပြစ်တင် ပြောဆိုပြီး မိမိတို့၏ ဂုဏ်သိက္ခာရှိမှုကို တစ်နည်းအားဖြင့် ထုတ်ဖော်ပြသလိုခြင်းပင်ဖြစ်သည်။ အမှန်မှာ ထိုခေတ်ထိုအခါတွင် တမန်တော်ယူစွဖ်၏ အံ့မဆုံးသော ရုပ်ဆင်းသဏ္ဌာန် လှပခြင်းသတင်းကို ကြားရသော အမျိုးသမီးတိုင်း၏ စိတ်တွင်း၌ တမန်တော်ယူစွဖ်အား မြင်လိုရှုလိုသည့် ဆန္ဒသည် ပေါ်ပေါက်လာခဲ့ပေသည်။ ဇလေခါအား ယင်းကဲ့သို့ ကဲ့ရဲ့ပြစ်တင် ပြောဆိုနေကြသော အမျိုးသမီးများ၏ စိတ်တွင်လည်း ထိုဆန္ဒသည် ပေါ်ပေါက်လာခဲ့ပေမည်။ ထို့အတွက် ယင်းအမျိုးသမီးများသည် ဇလေခါအား မခံချင်အောင် ပြောဆိုပြီး ဇလေခါက တမန်တော်ယူစွဖ်ကို ၎င်းတို့အား ထုတ်ပြရန် ပရိယာယ်ဉာဏ်ဆင်ခြင်းလည်း ဖြစ်နိုင်ပေသည်။

သို့တည်းမဟုတ် ဇလေခါ၏စိတ်တွင် တမန်တော်ယူစွဖ်နှင့် ပတ်သက်၍ မုန်းတီးမှုဖြစ်စေပြီး တမန်တော်ယူစွဖ်အား မိမိတို့ဘက်သို့ယိမ်းယိုင်စေရန် ပရိယာယ်ဉာဏ်ဆင်ခြင်းလည်း ဖြစ်နိုင်ပေသည်။ သို့တည်းမဟုတ် ဇလေခါသည် ဤကိစ္စတွင် အချို့အမျိုးသမီးများအား အတွင်းရေးကို အသိပေးထားခဲ့ဟန် ➤➤

أَيْدِيَهُنَّ وَقُلْنَ حَاشَ لِلَّهِ مَا هَٰذَا بَشَرًا إِنْ هَٰذَا إِلَّا مَلَكٌ كَرِيمٌ ﴿٣١﴾

သို့ဖြစ်ပေရာ ထိုမိန်းမတို့သည် ယူစွဖ်အား တွေ့မြင်ကြသောအခါ၊ ၎င်းနှင့်ပတ်သက်၍ အံ့ချီးမဆုံး ဖြစ်သွားခဲ့ကြကုန်၏။ ၎င်းပြင် ထိုမိန်းမတို့သည် မိမိ တို့၏လက်များကို လှီးမိကြကုန်၏။ ထို့နောက် ၎င်းတို့က အလ္လာဟ်အရှင်မြတ်သည် အပြစ်ကင်းစင် တော်မူ၍ အံ့ချီးမဆုံးနိုင်တော်မူပါဘိတကား၊ ဤ သူသည် လူသားတစ်ဦး မဖြစ်နိုင်၊ ဤသူသည် ကောင်းချီးမင်္ဂလာနှင့်ပြည့်စုံသော ကောင်းကင်စေတမန်သာ ဖြစ်ပေသတည်းဟု တအံ့တသြ ပြောဆိုကြကုန်၏။ ၁

➤➤ တူသည်။ ယင်းအမျိုးသမီးများသည် အတွင်းရေးကို ဖုံးဖိရမည့်အစား ထုတ်ဖော် ပြောဆိုလိုက်ခြင်းလည်း ဖြစ်နိုင်ပေသည်။

အထက်ပါ ဖော်ပြပါစကားရပ်များသည် 'မက်ရ်' ဟူသော ပုဒ်တွင် အားလုံး အကျုံးဝင်နိုင်ပေသည်။

(၁) ဇုလေခါသည် မိမိအား မြို့တွင်းရှိ အမျိုးသားများက ကဲ့ရဲ့ပြစ်တင် ပြောဆိုသည်ကို ကြားသိသောအခါ၊ ၎င်းတို့အား ပင့်ဖိတ်၍ ဧည့်ခံပွဲတစ်ရပ် ကျင်းပရန် စီစဉ်ခဲ့၏။ တိုင်းပြည်ယဉ်ကျေးမှု ထုံးတမ်းစဉ်လာအရ ဧည့်ခံခန်းမဆောင်ကို တင့်တယ်ခမ်းနားစွာ ဆင်ယင်ထား၏။ မှီအုံးများကိုလည်း အသင့်စီစဉ်ထား၏။ စားဖွယ် သောက်ဖွယ်ရာများနှင့် အသီးအနှံများကိုလည်း လိုလေသေးမရှိ၊ အသင့်ခင်းကျင်းထား၏။ စားဖွယ်ရာများတွင် ဓားဖြင့်လှီးဖြတ်၍ စားသုံးရသော အချို့ပစ္စည်းများလည်း ပါရှိ၏။ ထို့အတွက် ဧည့်ခံပွဲသို့ ကြွရောက်လာ ခဲ့ကြသောအမျိုးသမီး အသီးသီးတို့အား ဓားတစ်ချောင်းစီပေးထားခဲ့၏။ အစီအစဉ်များ အားလုံးပြီးစီး၍ ဧည့်ပရိသတ် စုံညီသောအခါ ဇုလေခါသည် အနီးတွင် တစ်နေရာ၌ရှိနေသော (တမန်တော်)ယူစွဖ်အား ဧည့်ပရိသတ်ရှေ့သို့ ထွက်လာခဲ့ရန် အသုံးပြုလိုက်လေ၏။ ထိုအချိန်တွင် အံ့ချီးမဆုံးအောင် လှပယဉ်ကျေး သိမ်မွေ့သော တမန်တော်ယူစွဖ်သည် ဣန္ဒြေကြီးစွာဖြင့် ဧည့်ပရိသတ်ရှေ့သို့ ထွက်လာခဲ့၏။ တမန်တော်ယူစွဖ်၏ အံ့မဆုံးသောအလှသည် အသင့်ရောက်ရှိနေသော အမျိုးသမီးတို့အား ငေးမှိုင်တွေဝေသွားစေခဲ့၏။ အမျိုးသမီး များသည် တမန်တော်ယူစွဖ်၏ အံ့မဆုံးသောအလှကို ရုတ်တရက် တွေ့မြင်လိုက်ကြရသည့်အခါ အံ့သြခြင်းကြီးမက အံ့သြ၍ သတိများပင်လစ်၍ သွားခဲ့ကြလေသည်။

ယင်းသို့ သတိလစ်၍နေခိုက် ထိုအမျိုးသမီးများသည် မိမိတို့လက်တွင် အသီးအနှံများကို လှီးဖြတ်စားသုံးရန် အသင့်ကိုင်ဆောင်ထားကြသော ဓားများဖြင့် အသီးအနှံ များကို လှီးဖြတ်ကြရမည့်အစား မိမိတို့၏လက်များကိုပင် လှီးဖြတ်လိုက် ကြပေသည်။ ထို့နောက် ယင်း အမျိုးသမီးများက 'အလ္လာဟ်အရှင်မြတ်သည် ချို့တဲ့မှုအပေါင်းမှ ကင်းစင်တော်မူ၍ အံ့မဆုံး ပြုစွမ်းတော် မူနိုင်ဘိတကား၊ ဤသူသည် လူသားတစ်ဦးမဟုတ်၊ ဤသူသည် ကောင်းချီးမင်္ဂလာအပေါင်းနှင့်ပြည့်စုံသော ကောင်းကင်တမန်တော် တစ်ပါးသည်သာဖြစ်သည်' ဟု အံ့သြကြီးစွာဖြင့် ပြောဆိုလိုက်ကြပေသည်။

قَالَتْ فَذٰلِكُنَّ الَّذِي لُمْتُنَّنِي فِيهِ ۖ وَلَقَدْ رَاوَدتُّهُ عَن نَّفْسِهِ فَاسْتَعْصَمَ ۖ وَلَئِن لَّمْ يَفْعَلْ مَا آمُرُهُ لَيُسْجَنَنَّ وَلَيَكُونًا مِّنَ الصَّاغِرِينَ ﴿٣٢﴾

၃၂။ (ထိုအခါ) ယင်းမိန်းမက (ဤသို့ပြန်)ပြောခဲ့လေ၏။ ဤသည်ပင် အကြင်သူတည်း၊ အသင်မိန်းမတို့သည် ကျွန်ုပ်အား ထိုသူနှင့်ပက်သက်၍ ကဲ့ရဲ့ပြစ်တင်ခဲ့ကြကုန်၏။ အမှန်စင်စစ်သော်ကား ကျွန်ုပ်သည်ပင် ၎င်းအား ၎င်း၏စိတ်သဘောနှင့်ဆန့်ကျင်၍ ချော့မော့မြူဆွယ်ခဲ့လေသည်။ သို့တစေလည်း ၎င်းမှာ မူကားလုံးဝအပြစ်ကင်းစင်စွာ နေခဲ့လေ၏။ သို့ရာတွင် အကယ်၍သာ ၎င်းသည် (အနာဂတ်တွင်) ကျွန်ုပ်အမိန့်ပေးလျက်ရှိသောအမှုကိစ္စကို မပြုလုပ်ခဲ့ပါလျှင် မလွဲဧကန် ၎င်းသည် အကျဉ်းချထားခြင်းခံရသည့်ပြင် ဂုဏ်အသရေ နိမ့်ကျသူ တစ်ဦးလည်း ဖြစ်ရလိမ့်မည်သာတည်း။

قَالَ رَبِّ السِّجْنُ أَحَبُّ إِلَيَّ مِمَّا يَدْعُونَنِي إِلَيْهِ ۖ وَإِلَّا تَصْرِفْ عَنِّي كَيْدَهُنَّ أَصْبُ إِلَيْهِنَّ وَأَكُن مِّنَ الْجَاهِلِينَ ﴿٣٣﴾

၃၃။ (ထိုအခါ) ယင်းယူစွဖ်က (အလ္လာဟ်အရှင်မြတ်အထံတော်၌ ဤသို့) လျှောက်ထားပန်ကြားခဲ့လေ၏။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ထိုမိန်းမတို့သည် ကျွန်တော်မျိုးအား ဖိတ်ခေါ်လျက်ရှိသော ကိစ္စ(ကို လိုက်နာဆောင်ရွက်ရမည်)ထက် ကျွန်တော်မျိုးအဖို့ အကျဉ်းထောင်သည်ပင် သာ၍ နှစ်သက်ဖွယ်ရာဖြစ်ပါ၏။ စင်စစ်မှာမူကားအကယ်၍သာ အရှင်မြတ်သည် ထိုမိန်းမတို့၏ ပရိယာယ်မာယာကို ကျွန်တော်မျိုးထံမှ ကွေကွင်းစေတော်မမူခဲ့ပါလျှင် ကျွန်တော်မျိုးသည် ၎င်းတို့ဘက်သို့ ယိမ်းညွှတ်သွားမိပါလိမ့်မည်။ ထိုအခါ ကျွန်တော်မျိုးသည် မသိမိုက်မဲသူတို့တွင် တစ်ဦးအပါအဝင် ဖြစ်သွားပါလိမ့်မည်။ ၁

(၁) တမန်တော်ယူစွဖ်သည် မိမိအား ပရိယာယ်အမျိုးမျိုးတို့ဖြင့် မြူဆွယ်နှောင့်ယှက်ဖျက်ဆီးရန် ကြံစည်ကြံပမ်းနေကြသော အမျိုးသမီးတို့၏ ညွှတ်ကွင်းမှ လွတ်ကင်းရန်အတွက် တမန်တော် တစ်ပါးပီပီ အလ္လာဟ်အရှင်မြတ်ထံတော်၌ ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း လျှောက်ထားပန်ကြားခဲ့လေသည်။ ➤➤

فَاسْتَجَابَ لَهُ رَبُّهُ فَصَرَفَ عَنْهُ كَيْدَهُنَّ ۚ إِنَّهُ هُوَ السَّمِيعُ الْعَلِيمُ ﴿٣٤﴾

၃၄။ ထို့နောက် ယင်းယူစွဖ်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ၎င်း၏ လျှောက်ထားပန်ကြားချက်ကို သဘောတူလက်ခံတော်မူခဲ့လေသည်။ သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် ယင်းမိန်းမတို့၏ ပရိယာယ်မာယာကို ထိုယူစွဖ်ထံမှ ကွေကွင်းစေတော်မူခဲ့လေသည်။ ဧကန်မလွဲ ထိုအရှင်မြတ်သည် အကြွင်းမဲ့ကြားတော်မူသောအရှင်၊ အကြွင်းမဲ့သိတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

ثُمَّ بَدَا لَهُمْ مِنْ بَعْدِ مَا رَأَوُا الْآيَاتِ لَيَسْجُنُنَّهُ حَتَّىٰ حِينٍ ﴿٣٥﴾

၃၅။ ထို့နောက်တစ်ဖန် ၎င်းတို့သည် (အပြစ်တစ်စုံတစ်ရာမရှိကြောင်း) သက်သေခံ အထောက်အထားများကို တွေ့မြင်ကြပြီးနောက် ၎င်းတို့၌ထိုယူစွဖ်အား ကာလအနည်းငယ်မျှ အကျဉ်းချထားရန် သင့်တော်သည်ဟု အတွေးပေါ်လာခဲ့လေသည်။ ၁

➤➤ တမန်တော်ယူစွဖ်၏ လျှောက်ထားပန်ကြားချက်ကို ထောက်ရှုခြင်းအားဖြင့် ရစူလ်၊ နဗီတမန်တော်အပေါင်းတို့သည် "မအ်ဆူမ်" အပြစ်ကင်းသူများ ဖြစ်ကြခြင်းမှာလည်း အလ္လာဟ်အရှင်မြတ်၏ ထိန်းသိမ်းကာကွယ်ဖေးမ၊ စောင့်ရှောက်မှုကြောင့်သာ ဖြစ်ကြောင်း၊ တမန်တော်အပေါင်းတို့သည်လည်း ယင်းကဲ့သို့ အပြစ်ကင်းသူများဖြစ်ကြရသည့်အတွက် ဝါကြွားခြင်း အလျဉ်းမရှိကြောင်း၊ ထို့ပြင်တဝ ယင်းကဲ့သို့ အပြစ်များမှ ကင်းစင်နိုင်ကြရန်အတွက်လည်း မူရင်းအကြောင်းတရား ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အားသာလျှင် အမြဲတစေ မှီခိုအားထားလျက်ရှိကြောင်း ကောင်းစွာသိနိုင်ပေသည်။

(၁) အဇီဇ်မင်းကြီးနှင့် အပေါင်းပါတို့သည် တမန်တော်ယူစွဖ်၌ အပြစ်တစ်စုံတစ်ရာမရှိကြောင်း သက်သေခံအထောက်အထား အမြောက်အမြား တွေ့မြင်ကြရပြီးနောက်သော်မှပင် တိုင်းသူပြည်သားလူအများက ဤကိစ္စတွင် ယူစွဖ်၌ အပြစ်ရှိသည်။ ဇုလေခါသည် အကြောင်းမဲ့ နာမည်ပျက်ရသည်ဟု ထင်မြင်လာစေရန်အတွက် တမန်တော်ယူစွဖ်အား သတ်မှတ်ထားသည့်အချိန်ကာလအထိ အကျဉ်းချထားသင့်သည်ဟူ၍ ထင်မြင်ယူဆလာခဲ့ကြလေသည်။

သို့ ထင်မြင်ယူဆ ခဲ့ကြသည့် အတိုင်းလည်း တမန်တော်ယူစွဖ်အား မတရားသဖြင့် အကျဉ်းချထားခဲ့ကြလေသည်။ တစ်နည်းအားဖြင့် အဇီဇ်မင်းကြီးသည် ဇုလေခါ၏ ခြိမ်းခြောက်ချက်ကို လက်တွေ့ အကောင်အထည်ဖော်လိုက်ခြင်းပင် ဖြစ်ပေသည်။

တမန်တော်ယူစွဖ်အား ဤသို့မတရား အကျဉ်းချထားခြင်းဖြင့် အဇီဇ်မင်းကြီးသည် ဇုလေခါ၏ အမည်းစက်ကိုလည်း ပျောက်ကွယ်သွားအောင် လုပ်နိုင်ပေမည်။ ဇုလေခါ၏ရှေ့မှောက်မှ ယူစွဖ်ကိုလည်း ဖယ်ရှားထားနိုင်ပေမည်ဟု ယူဆခဲ့ပေမည်။ ဇုလေခါကလည်း ယူစွဖ်သည် ဤသို့အကျဉ်းထောင်၏ ➤➤

وَدَخَلَ مَعَهُ السِّجْنَ فَتَيٰنِ ۗ قَالَ أَحَدُهُمَآ إِنِّيٓ أَرٰىنِيٓ أَعْصِرُ خَمْرًا ۚ وَقَالَ الْاٰخَرُ إِنِّيٓ أَرٰىنِيٓ أَحْمِلُ فَوْقَ رَأْسِي خُبْزًا تَأْكُلُ الطَّيْرُ مِنْهُ ۖ نَبِّئْنَا بِتَأْوِيلِهِ ۚ إِنَّا نَرٰىكَ مِنَ الْمُحْسِنِينَ ﴿٣٦﴾

၃၆။ ၎င်းပြင် ထိုယူစွဖ်နှင့်အတူ လုလင်နှစ်ဦးသည်လည်း အကျဉ်းထောင်ထဲသို့ ဝင်ရောက်ခဲ့ကြလေသည်။ထိုလုလင်နှစ်ဦးအနက်မှတစ်ဦးက (ယူစွဖ်အား) 'ဧကန်စင်စစ်ကျွန်ုပ်သည် (အိပ်မက်တွင်) မိမိကိုယ်ကို မိမိစပျစ်ရည်ညှစ်နေသည်ဟု တွေ့မြင်ကြောင်း ပြောပြခဲ့လေသည်။ အခြားတစ်ဦးကမူ ဧကန်အမှန် ကျွန်ုပ်သည် မိမိကိုယ်ကို (အိပ်မက်တွင် တွေ့မြင်ခဲ့သည်မှာ) ကျွန်ုပ်သည် မိမိဦးခေါင်းထက်ဝယ် မုန့်(ဗျပ်)ကို ရွက်လျက်ရှိပေရာ ငှက်များသည် ထိုမုန့်များမှ (မိမိတို့၏နှုတ်သီးများဖြင့်ထိုး၍) စားနေကြသည်ကို တွေ့မြင်ကြောင်း၊ အသင်သည် (ထိုအိပ်မက်)၏ဒိဗ်ခုမ်ကို ကျွန်ုပ်တို့အားကြားသိစေပါလေ၊ ဧကန်မလွဲ ကျွန်ုပ်တို့သည် အသင့်အား သူတော်စင်တစ်ဦးဖြစ်ကြောင်း တွေ့မြင်ကြပါသည်ဟု ပြောဆိုခဲ့ကြလေသတည်း။ ၁

➤➤ ဒုက္ခကြီးငယ်တို့ကို ခံစားရသည့်အခါ စိတ်ဓာတ်ပျော့ပျောင်းလာပြီး ၎င်းဘက်သို့ ယိမ်းယိုင်လာပေမည်ဟု ယူဆခဲ့ပေမည်။ သို့ရာတွင် ၎င်းတို့သည် ခဲလေသမျှ သဲရေကျ ဖြစ်ခဲ့ကြရသည်။ ၎င်းတို့၏ရည်ရွယ်ချက်အလျင်း အထမမြောက်ခဲ့ပေ၊ တမန်တော် ယူစွဖ်အဖို့မှာမူ 'ပတ္တမြားမှန်လျှင် နွံမှာနစ်သော်လည်း ဆထက်ထမ်းပိုး တိုး၍ ပြောင်သည်' ဆိုသကဲ့သို့ ယင်းကဲ့သို့ အကျဉ်းခံရခြင်းသည်ပင် မိမိ၌အပြစ်မရှိကြောင်း ကမ္ဘာသိဖြစ်ရန်နှင့် အီဂျစ်ပြည်ကြီးကို စိုးမိုးအုပ်ချုပ်မင်းလုပ်ရန် အကြောင်းတရား ဖြစ်လာခဲ့ရလေသည်။

(၁) တမန်တော်ယူစွဖ် (အလိုင်ဟစ္စလာမ်) အကျဉ်းထောင်သို့ မတရားသဖြင့် ပို့ခြင်းခံရသည့်အချိန်မှာပင် အကြောင်းအားလျော်စွာ လုလင် ၂-ဦးသည်လည်း အဆိုပါအကျဉ်းထောင်သို့ တရားခံများအဖြစ်နှင့် ရောက်ရှိလာခဲ့ကြပေသည်။ ထိုလုလင် ၂-ဦးအနက် တစ်ဦးမှာ အီဂျစ်ဘုရင် (ရိုင်ယာန်အီဗ်နုအလ်ဝလီဒ်)၏ ထမင်းချက်စားတော်ကဲ ဖြစ်သည်။ အခြားလုလင်မှာ အီဂျစ်ဘုရင်အား အရက်ဆက်ကပ်သော ရေကြည်ဝန်ဖြစ်သည်။ ၎င်းတို့ ၂-ဦးသည် ဘုရင်မင်းမြတ်အား အဆိပ်ခတ်၍ လုပ်ကြံရန် ကြံစည်ခဲ့ကြသည်ဟူသော စွပ်စွဲချက်ဖြင့် အရေးယူ ချုပ်နှောင်ဖမ်းဆီးခြင်းခံရသော တရားခံများဖြစ်ကြသည်။

အကျဉ်းထောင်အတွင်း၌ တမန်တော်ယူစွဖ်၏ ယဉ်ကျေးသိမ်မွေ့မှု၊ ကတိတည်မှု၊ မှန်ကန်မှု၊ မြင့်မြတ်သော ကိုယ်ကျင့်တရားများရှိမှု၊ များစွာဝတ်ပြုမှု၊ အိပ်မက်ဒိဗ်ခုမ်ကျွမ်းကျင်မှု၊ သူတစ်ပါးတို့အား သနားကြင်နာ ထောက်ထားစာနာလေးစားမှု . . . စသည့် ဂုဏ်သတင်းများသည် ပျံ့နှံ့ကျော်ကြားလျက်ရှိခဲ့၏။ ထို့အတွက် အကျဉ်းသားများနှင့်တကွ အထူးသဖြင့် လုင် ၂-ဦးတို့သည် တမန်တော်ယူစွဖ်နှင့် အလွန်ခင်မင်ရင်းနှီးလျက် ရှိခဲ့ကြ၏။ တမန်တော် ယူစွဖ်အား အလွန် ကြည်ညို လေးစားလျက် ရှိခဲ့ကြ၏။ ➤➤

قَالَ لَا يَأْتِيكُمَا طَعَامٌ تُرْزَقَانِهِ إِلَّا نَبَّأْتُكُمَا بِتَأْوِيلِهِ قَبْلَ أَنْ يَأْتِيَكُمَا ذَٰلِكُمَا مِمَّا عَلَّمَنِي رَبِّي إِنِّي تَرَكْتُ مِلَّةَ قَوْمٍ لَا يُؤْمِنُونَ بِاللَّهِ وَهُمْ بِالْآخِرَةِ هُمْ كَافِرُونَ ﴿٣٧﴾

၃၇။ (ထိုအခါ) ယူစွဖ်က (ဤသို့)ပြောကြားခဲ့လေသည်။ အသင်တို့နှစ်ဦး ကျွေးမွေးခြင်း ခံကြရသောအစာအာဟာရသည် အသင်တို့နှစ်ဦးထံ ရောက်မလာမီပင် ကျွန်ုပ်သည် အသင်တို့အား ယင်းအိပ်မက်ကို ကြားသိစေလေ့ရှိပါမည်။ ဤကား ကျွန်ုပ်အား ကျွန်ုပ်၏အရှင်မြတ်က သင်ကြားတော်မူခဲ့သော ပညာများ အနက်မှ ဖြစ်ပေသည်။

အမှန်စင်စစ် ကျွန်ုပ်သည် (ယခင်မူလကပင်) အကြင်သူတို့၏ သာသနာကို စွန့်ထားခဲ့ပြီးဖြစ်ပေမည်။ ၎င်းတို့သည် အလ္လာဟ် အရှင်မြတ်အားလည်း သက်ဝင်ယုံကြည်ကြသည် မဟုတ်ပေ၊ ထို့ပြင် ၎င်းတို့သည် နောင်တမလွန်ဘဝကိုလည်း မယုံကြည်သွေဖည် ငြင်းပယ်သူများပင် ဖြစ်ကြကုန်သတည်း။

وَاتَّبَعْتُ مِلَّةَ آبَائِي إِبْرَاهِيمَ وَإِسْحَاقَ وَيَعْقُوبَ مَا كَانَ لَنَا أَنْ نُشْرِكَ بِاللَّهِ مِنْ شَيْءٍ ذَٰلِكَ مِنْ فَضْلِ اللَّهِ

၃၈။ ၎င်းပြင် ကျွန်ုပ်သည် မိမိဘေးတော်၊ ဘိုးတော်နှင့် ခမည်းတော်များ ဖြစ်ကြကုန်သော (နဗီတမန်တော်) အီဗ်ရာဟီမ်၊ (နဗီတမန်တော်) အစ္စဟာက်၊ နဗီတမန်တော် ယအ်ကူဗ်တို့၏ သာသနာကိုပင် လိုက်နာခဲ့ပေသည်။ ကျွန်ုပ်တို့အဖို့ မည်သည့်တစ်စုံတစ်ရာကိုမျှ အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ် (ကိုးကွယ်) ရန် (လုံးဝ) မထိုက်ပေ။

---

▶▶ **လုင် ၂-ဦး အိပ်မက်မြင်မက်ခြင်း။**

တစ်နေ့သောအခါ ထိုလုင် ၂-ဦးတို့သည် အသီးသီး အိပ်မက်မြင်မက်ကြ၏။ ထိုအခါ လုင် ၂-ဦး တို့သည် တမန်တော် ယူစွဖ်အား မိမိတို့မြင်မက်သော အိပ်မက်များကို အိပ်မက်ဒိဗ်စုမ် ကောက်ပြရန်အတွက် ပြောပြကြသည်မှာ အရက်ဆက်ကပ်သူက 'ကျွန်တော်သည် ဘုရင်မင်းမြတ်အား အရက်ဆက်ကပ်နေပါသည်ဟု အိပ်မက်မြင်မက်ကြောင်း၊ စားတော်ကဲက ကျွန်တော်သည် မိမိဦးခေါင်းပေါ်၌ မုန့်များ ရွက်ထားလျက်ရှိစဉ် ငှက်များသည် နှုတ်သီးများဖြင့် ထိုမုန့်များကို ထိုးသုတ်စားလျက်ရှိသည်ဟု မြင်မက်ကြောင်း အသီးသီး ပြောပြကြပြီးလျှင် ယင်းအိပ်မက်များ၏ ဒိဗ်စုမ်ကို မေးမြန်းကြလေသည်။

عَلَيْنَا وَعَلَى النَّاسِ وَلٰكِنَّ
أَكْثَرَ النَّاسِ لَا يَشْكُرُوْنَ ﴿٣٨﴾

ဤ(သည့် အယူဝါဒ)သည်ကား ကျွန်ုပ်တို့အပေါ်၌လည်းကောင်း၊ လူခပ်သိမ်းတို့ အပေါ်၌လည်းကောင်း၊ အလ္လာဟ် အရှင်မြတ်၏ (ကြီးမားလှစွာသော) ကျေးဇူးတော် တစ်ရပ်ပင် ဖြစ်ချေသည်။ သို့ရာတွင် လူသားအနက် အများစုမှာမူ (ဤမျှကြီးမားလှသော) ကျေးဇူးတော်ကိုပင် မသိတတ်ကြပေတကား။

يٰصَاحِبَيِ السِّجْنِ ءَأَرْبَابٌ
مُّتَفَرِّقُوْنَ خَيْرٌ أَمِ اللّٰهُ
الْوَاحِدُ الْقَهَّارُ ﴿٣٩﴾

၃၉။ အို-(ကျွန်ုပ်၏) အကျဉ်းထောင်ဖက် မိတ်ဆွေနှစ်ဦး အထူးထူး အပြားပြားသော ကိုးကွယ်ရာများပင် သာလွန်၍ ကောင်းမြတ်ကြသလော၊ သို့တည်းမဟုတ် (အလုံးစုံတို့ထက်ဝယ်) နိမ်နင်း လွှမ်းမိုးတော်မူသောတစ်ဆူတည်းသောအလ္လာဟ်အရှင်မြတ်သည်ပင် သာလွန်၍ ကောင်းမြတ်တော်မူပါလေသလော။

مَا تَعْبُدُوْنَ مِنْ دُوْنِهٖٓ
إِلَّآ أَسْمَآءً سَمَّيْتُمُوْهَآ
أَنْتُمْ وَآبَآؤُكُمْ مَّآ أَنْزَلَ
اللّٰهُ بِهَا مِنْ سُلْطٰنٍ ۚ إِنِ
الْحُكْمُ إِلَّا لِلّٰهِ ۚ أَمَرَ أَلَّا
تَعْبُدُوْٓا إِلَّآ إِيَّاهُ ۚ ذٰلِكَ
الدِّيْنُ الْقَيِّمُ وَلٰكِنَّ أَكْثَرَ

၄၀။ (အမှန်စင်စစ်ကား)အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား စွန့်၍ အသင်တို့၏အဖ၊ ဘိုးဘေးများ၊ အပါအဝင် မိမိတို့ကိုယ်တိုင် အမည်နာမ မှည့်ခေါ်ထားသည့် (ဘုရား)များကိုသာ ကိုးကွယ်နေကြကုန်၏။ (စင်စစ်ဆိုသော်) အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့(အား ကိုးကွယ်ရန်)နှင့် စပ်လျဉ်း၍ သက်သေခံ တစ်စုံတစ်ရာမျှပင် ချပေးတော်မူခဲ့သည် မဟုတ်ပေ။အမိန့်အာဏာ(အလုံးစုံတို့)ကား အလ္လာဟ် အရှင်မြတ်၌သာ ရှိပေသည်။

ထို အရှင်မြတ်က 'အသင်တို့သည် ထို အရှင်မြတ်မှ တစ်ပါး မည်သည့် တစ်စုံတစ်ရာကိုမျှ မကိုးကွယ်ကြရ' ဟု အမိန့်တော်ထုတ်ပြန် ချမှတ်တော်မူခဲ့လေသည်။

النَّاسِ لَا يَعْلَمُونَ ۝٤٠

ဤသည်သာလျှင် ဖြောင့်မတ် မှန်ကန်သော သာသနာတော်ပင်တည်း။ သို့ရာတွင် အများဆုံး သောလူတို့မှာကား မသိနားမလည်ကြပေ။ ၁

(၁) အဆိုပါ လုလင် ၂-ဦးက တမန်တော်မြတ်ယူစွဖ်အား ယုံကြည်လေးစားစွာဖြင့် မိမိတို့ မြင်မက်သော အိပ်မက်များ၏ဒိဗ်စုမ်ကိုဟောရန် မေတ္တာရပ်ခံကြသောအခါ တမန်တော်မြတ်ယူစွဖ်သည် ၎င်းတို့ ၂-ဦးအား အသင်တို့ စားသုံးရန်ရရှိသော အစာအဟာရများ အသင်တို့ထံ မရောက်မီပင် ကျွန်ုပ်သည် အသင်တို့၏ အိပ်မက်ဒိဗ်စုမ်ကို ဟောပါမည်ဟု ကတိပေးနှစ်သိမ့်စေခဲ့၏။

မိမိအား ယင်းကဲ့သို့ ယုံကြည်လေးစားသူ ၂-ဦးတို့အား အိပ်မက်ဒိဗ်စုမ် မဟောသေးမီ အလျင် ထိုကဲ့သို့ အခါအခွင့်သင့်ခိုက် တမန်တော်ယူစွဖ်သည် တမန်တော်တစ်ပါးပီပီ မိမိ၌ တာဝန်ရှိသည်နှင့်အညီ အောက်ပါအတိုင်း စတင်၍ တရားဓမ္မ ဟောကြားခဲ့လေသည်။

**တမန်တော်ယူစွဖ်၏ ထောင်တွင်းတရား**

(အလိုသဘောမှာ)

ထောင်ကျဘက် မိတ်ဆွေနှစ်ဦးတို့ (ကျွန်ုပ်သည် အချိန်အနည်းငယ်အတွင်း) အသင်တို့၏ အိပ်မက် ဒိဗ်စုမ်ကို ဟောပါမည်။ သို့ရာတွင် အိပ်မက်ဒိဗ်စုမ် မဟောသေးမီအတွင်း ယခုကဲ့သို့ အချိန်ရခိုက် အိပ်မက်ဒိဗ်စုမ် ထက်ပင် ပိုမိုအရေးကြီးသော၊ ပိုမိုအကျိုးသက်ရောက်စေသော စကားတခွန်း ပြောပြလိုပါသည်။

ထိုအရေးကြီးသော စကားကား အခြားမဟုတ် ဤအိပ်မက်ဒိဗ်စုမ်စသည်တို့နှင့် စပ်လျဉ်းသည့် အသိပညာကို ကျွန်ုပ်အဘယ်မှ ရရှိခဲ့ပါသနည်း။ အသင်တို့ သိထားအပ်သည်မှာ ကျွန်ုပ်သည် ဗေဒင်ဆရာမဟုတ် နက္ခတ်ာရာဆရာမဟုတ်၊ အမှန်မှာ ဤသည့်ပညာရပ်များကို အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် ကျွန်ုပ်အား ချီးမြှင့်ပေးသနားတော်မူခြင်းသာ ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်အား မယုံကြည်ကြသော နောင်တမလွန်ဘဝကို ငြင်းပယ်သော ကာဖိရ်မိစ္ဆာဒိဋ္ဌိ တို့၏ အယူဝါဒကို မည်သည့်အခါကမျှ ကျွန်ုပ်လက်မခံခဲ့ပါ။ အမြဲတစေ စွန့်ပယ်ခဲ့ပါသည်။ ကျွန်ုပ်သည် မိမိ၏ဘေးတော်၊ ဘိုးတော်၊ ခမည်းတော်ဖြစ်သော တမန်တော်အီဗ်ရာဟီမ်၊ တမန်တော်အစ္စဟာက်နှင့် တမန်တော် ယအ်ကူဗ်တို့၏ သာသနာတော်ကိုသာ နာယူခဲ့ပါသည်။ ၎င်းတို့၏ မွန်မြတ်လှစွာသော ကျင့်စဉ်ကျင့်ရပ်များကိုသာ လိုက်နာကျင့်သုံးခဲ့ပါသည်။

ကျွန်ုပ်တို့ အထူးသတိပြုအပ်သည့် အချက်ကြီးတစ်ရပ်မှာ ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်၍ မည်သည့်အရာကိုမျှ မည်သည့်နည်း၊ မည်သည့်အဆင့်အတန်း၊ မည်သည့်အချိန်၊ မည်သည့်အခြေအနေ၊ မည်သည့်ပတ်ဝန်းကျင်၌မျှ ဝတ်ပြုကိုးကွယ်ခြင်း အလျင်း မပြုထိုက်ပေ။ ကျွန်ုပ်တို့သည် ထိုအရှင်မြတ်အားသာလျှင် ယုံကြည်မြတ်နိုးကြရမည်။ ထိုအရှင်မြတ်အားသာလျှင် ယုံပုံ လွှဲအပ်ကြရမည်။ ထိုအရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ကြရမည်။ ကျွန်ုပ်တို့၏ သေရေး၊ ရှင်ရေး၊ အရေးကိစ္စ အဝဝတို့သည် ထိုအရှင်မြတ်အဖို့သာလျှင် ဖြစ်စေရမည်။

ဤသည့် 'တောင်ဟီဒ်' တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ခဝပ် ကိုးကွယ်ခြင်း နှင့် တမန်တော်အီဗ်ရာဟီမ်၏ သာသနာအပေါ်၌ ရပ်တည်နေနိုင်ခြင်းသည် ကျွန်ုပ်တို့အပေါ်၌သာမဟုတ်။ ကမ္ဘာ့အဝန်းရှိ လူသားအားလုံးတို့အပေါ်၌ အလ္လာဟ်အရှင်မြတ်၏ ကြီးမားလှသော ကျေးဇူးတော် ➤➤

يٰصَاحِبَيِ السِّجْنِ اَمَّآ اَحَدُكُمَا فَيَسْقِيْ رَبَّهٗ خَمْرًا ۚ وَاَمَّا الْاٰخَرُ فَيُصْلَبُ فَتَاْكُلُ الطَّيْرُ مِنْ رَّاْسِهٖ ۚ قُضِيَ الْاَمْرُ الَّذِيْ فِيْهِ تَسْتَفْتِيٰنِ ﴿٤١﴾

၄၁။ အို-အကျဉ်းထောင်ဖက် မိတ်ဆွေနှစ်ဦး၊ မည်သို့ပင်ဖြစ်စေ၊ အသင်တို့နှစ်ဦးအနက် တစ်ဦးမှာမူ မိမိ၏သခင်(ဖြစ်သော ဘုရင်)အား (ရှေးယခင်အတိုင်းပင်)သေစာအရက်ကို ဆက်လက်၍တိုက်ကျွေးရပေမည်၊ သို့ရာတွင်တခြားတစ်ဦးမှာမူကား လက်ဝါးကပ်တိုင်သို့ အတင်ခံရပြီးနောက် ငှက်များသည် ဦးခေါင်းကို (နှုတ်သီးဖြင့် ထိုး၍)စားကြပေလိမ့်မည်။ အသင်တို့နှစ်ဦး မေးမြန်းလျက် ရှိကြကုန်သောကိစ္စမှာ (ဤအတိုင်းပင်)ပြဋ္ဌာန်းပြီးဖြစ်ခဲ့ပေသတည်း။ [၁]

---

➤➤ တစ်ရပ်ပင် ဖြစ်သည်။ သို့ရာတွင် လူသားတို့အနက် မြောက်မြားစွာသော သူများသည် ဤသည့်ကျေးဇူးတော်ကို မသိတတ်ကြပေ။ ဤသည့်ကျေးဇူးတော်ကို သိနားလည်၍ တောင်ဟီဒ်တရားအပေါ်၌ ရပ်တည်နေကြရမည့်အစား ကျေးဇူးကန်းကာ ကာဖိရ်၊ ရှရစ်က်၌ နစ်မွန်းလျက် ရှိကြပေသည်။

ထို့နောက် တမန်တော်ယူစွဖ်က ထိုလူ ၂-ဦးတို့အား ဟောကြားသည်မှာ အို-အကြင်ထောင်ကျဘက် မိတ်ဆွေ ၂-ဦး၊ အထူးထူး အပြားပြားသော ကိုးကွယ်ရာများကို ကိုးကွယ်ခြင်းသည် ကောင်းပါသလော၊ သို့တည်းမဟုတ် တစ်ဆူတည်းဖြစ်တော်မူသော အရာခပ်သိမ်းကုန်တို့ကို အနန္တတန်ခိုးတော်ဖြင့် လွှမ်းမိုးတော်မူသော အလ္လာဟ်အရှင်မြတ်အား ခဝတ်ကိုးကွယ်ခြင်းသည် ကောင်းပါသလော အသင်တို့ပင် စဉ်းစား၍ ဖြေကြကုန်။

အလ္လာဟ် အရှင်မြတ်အား စွန့်လွှတ်၍ အသင်တို့ ယခုဆည်းကပ် ကိုးကွယ်နေကြသော ကိုးကွယ်ရာများသည် အမှန်မှာ အသင်တို့နှင့် အသင်တို့၏ ဘိုးဘေးများ ခေါ်ဝေါ်သမုတ်ထားကြသည့် အမည်နာမများသာလျှင် ဖြစ်သည်။ ယင်းအရာများသည် အသို့မျှ အခြေအမြစ်မရှိချေ။ ယင်းအရာများနှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်ထံတော်မှ အထောက်အထား တစ်စုံတစ်ရာ ချပေးထားတော်မူခဲ့သည်လည်း အလျင်းမရှိချေ။

အမှန်မှာ အမိန့်အာဏာသည် အလ္လာဟ်အရှင်မြတ်၌သာလျှင် တည်ရှိသည်။ ထိုအရှင်မြတ်က မိမိမှတစ်ပါး အခြားမည်သည့် အရာကိုမျှ ခဝပ်ကိုးကွယ်ခြင်း အလျင်းမပြုကြနှင့်ဟူ၍ အတိအလင်း ပညတ်ထားတော်မူသည်။ ဤသည်ဖြောင့်မတ် မှန်ကန်သော သာသနာဖြစ်သည်။ သို့တစေလည်း လူသားတို့အနက် အများစုကြီးသည် မသိကြပေဟု တမန်တော်ယူစွဖ်သည် လေးနက်စွာ တရားဟောကြားခဲ့လေသည်။

(၁) တမန်တော်ယူစွဖ် (အလိုင်ဟစ္စလာမ်)သည် ထိုလူ ၂ဦးအား အထက်၌ ပါရှိခဲ့သည့်အတိုင်း လေးနက်စွာ တရားဓမ္မဟောညွှန်ပြပြီးနောက် မိမိ၏ကတိအတိုင်း ၎င်းတို့နှစ်ဦး၏ အိပ်မက်ဒိဗ်ခုမ်ကို အောက်ပါအတိုင်း ဟောကြားခဲ့လေသည်။

အသင်တို့ ၂-ဦးအနက် အရက်သေစာလုပ်ရန် စပျစ်ညှစ်ရသည်ဟူ၍ အိပ်မက်မြင်မက်သူသည် ယခင်အတိုင်းပင် မိမိ၏သခင် ဘုရင်မင်းမြတ်အား အရက်ဆက်ကပ်ရမည်ဖြစ်သည်။ ဦးခေါင်းပေါ်တွင် ရွက်ထားသည့် မုန့်များကို ငှက်များထိုးသုတ်စားသည်ဟူ၍ အိပ်မက်မြင်မက်သူသည် လက်ဝါးကပ်တိုင်ပေါ်တွင် ကွပ်မျက်ခြင်းခံရမည်။ ထို့နောက် ၎င်း၏ဦးခေါင်းကို ငှက်များထိုးသုတ် စားကြမည်ဖြစ်သည်။ ➤➤

وَقَالَ لِلَّذِىْ ظَنَّ اَنَّهٗ نَاجٍ مِّنْهُمَا اذْكُرْنِىْ عِنْدَ رَبِّكَ فَاَنْسٰىهُ الشَّيْطٰنُ ذِكْرَ رَبِّهٖ فَلَبِثَ فِى السِّجْنِ بِضْعَ سِنِيْنَ ﴿٤٢﴾

၄၂။ ၎င်းပြင် ထိုယူစွဖ်သည် ယင်းလုလင်နှစ်ဦး အနက်မှ လွတ်မြောက်မည့်သူဖြစ်သည်ကို ယုံကြည်သောသူအား 'အသင်သည် မိမိသခင်(ဖြစ်သောဘုရင်မင်းမြတ်)ထံတွင် ကျွန်ုပ်၏အကျိုးအကြောင်းကို ဖော်ပြပြောဆိုပါလေ' ဟု ပြောဆို မှာကြားခဲ့လေ၏။ သို့ရာတွင် ရှိုင်တွာန်မိစ္ဆာကောင်သည် ထိုလုလင်အား မိမိသခင် (ဘုရင်မင်းမြတ်)ရှေ့တွင် ထိုယူစွဖ်၏ အကြောင်း ပြောပြရန် မေ့လျော့စေခဲ့ရာ ထိုယူစွဖ်သည် အကျဉ်းထောင်ထဲတွင် နှစ်ကာလအတန်ကြာအောင် နေထိုင်ခဲ့ရလေသတည်း။ ၁

▶▶ အလ္လာဟ်အရှင်မြတ်၏ အဆုံးအဖြတ်တော်မှာ ဤအတိုင်းပင်ဖြစ်သည်။ ဤတွင် အပြောင်းအလဲ အလျှင်းမရှိပြီဟူ၏။

နောက်ဆုံးတွင် တမန်တော်ယူစွဖ် အိပ်မက်၏အနက်ကို ဖတ်တော်မူခဲ့သည့်အတိုင်းပင် ရေကြည်ဝန်သည် အပြစ်မှ လွတ်မြောက်ပြီး ယခင်ရာထူး၌ ဆက်လက်ခန့်ထားခြင်း ခံရလေသည်။ စားတော်ကဲမှာမူ အပြစ်ထင်ရှားသည့်အတွက် လက်ဝါးကပ်တိုင်ပေါ်၌ ကွပ်မျက်ခြင်းခံရပြီးလျှင် ၎င်း၏ ဦးခေါင်းကို ငှက်များ ထိုးသုတ်စားကြလေသည်။

(၁) ဤအာယတ်တော်တွင် ပါရှိသော (ظَنَّ) ဟူသောပုဒ်သည် ကုရ်အာန်ကျမ်းမြတ် (၂:၄၆)တွင် ပါရှိသော (يَظُنُّوْنَ) ဟူသောပုဒ်၏ အနက်သဘောနှင့်တူသည်၊ (ဝါ) ယုံကြည်ခြင်းအနက် ဟောသည်။

ဆိုလိုသည်ကား တမန်တော်ယူစွဖ်က ထိုလုလင် ၂-ဦးအနက် လွတ်မြောက်လိမ့်မည်ဟု မိမိ ယုံကြည်ခဲ့သော လုလင်အား ထိုလုလင် အကျဉ်းထောင်မှ ထွက်သောအခါ အသင်သည် မိမိ၏သခင် ဘုရင်မင်းမြတ်ရှေ့တော်တွင် ကျွန်ုပ်၏အကြောင်းကို (ဝါ) အကျဉ်းထောင်တွင် ပုဂ္ဂိုလ်တစ်ဦးသည် အပြစ်မရှိဘဲလျက် မတရားသဖြင့် နှစ်ပေါင်းများစွာကပင် အကျဉ်းချထားခြင်းကို ခံနေရကြောင်း မိမိတွေ့မြင်သည့်အတိုင်း အပိုအလိုမပါ ဖြစ်ရပ်မှန်ကိုသာ ပြောပြပါဟု မှာကြားလိုက်လေသည်။

ယင်းသို့ တမန်တော်ယူစွဖ်က အကျဉ်းထောင်မှ လွတ်မြောက်သွားခဲ့သည့် လုလင်အား မှာကြားလိုက်သော်လည်း ရှိုင်တွာန်သည် ယင်းလုလင်၏စိတ်တွင် အမျိုးမျိုး တွေဝေမိုက်မောစေသော အတွေးအခေါ်များ၊ မကောင်းသော အကြံအစည်များ၊ နှိုးဆော်ချက်များ ဖြစ်ပေါ်စေခဲ့ရာ ထိုလုလင်သည် ဘုရင်မင်းမြတ်ရှေ့တော်တွင် မိမိ၏ကျေးဇူးရှင် တမန်တော်ယူစွဖ်၏အကြောင်းကို ပြောပြလျှောက်ထားရန် သတိမေ့သွားခဲ့လေသည်။ ထို့အတွက် တမန်တော်ယူစွဖ်သည် အကျဉ်းထောင်၌ နောက်ထပ် နှစ်အတန်ကြာနေခဲ့ရလေသည်။ ထို့နောက် နှစ်အတန်ကြာသောအခါ အီဂျစ်ပြည် ဘုရင်မင်းမြတ်သည် အလွန်ထူးအံ့ဖွယ်ရာဖြစ်သော အိပ်မက်ကို မြင်မက်လေသည်။ ထိုအိပ်မက်ဒိဗ်စုမ်ကို ဟောပြောနိုင်သူဟူ၍လည်း တိုင်းပြည်တွင် တစ်ဦးတစ်ယောက်မျှ မရှိခဲ့ပေ။ ထိုအခါကျမှ အဆိုပါလုလင်သည် တမန်တော်ယူစွဖ်အား အမှတ်ရလေတော့သည်။ ကြည့်-ကုရ်အာန် (၁၂:၄၅) ▶▶

၄၃။ ထို့နောက် ဘုရင်က ဇကေန်စင်စစ် ငါသည် အိပ်မက်တွင် ဝဝဖြိုးဖြိုးရှိကြကုန်သော နွားမ ခုနစ်ကောင်ကို ပိန်ချုံးလျက်ရှိသော နွားမခုနစ်ကောင်တို့က စား၍နေကြသည်ကိုလည်းကောင်း၊ စိုစိမ်းသော စပါးနှံ ခုနစ်နှံနှင့် အခြား သွေ့ခြောက်လျက်ရှိကုန်သော (စပါးနှံ ခုနစ်နှံတို့ကို)လည်းကောင်း၊ မြင်မက်ခဲ့လေသည်။

အို-မှူးကြီးမတ်ရာတို့၊ အကယ်၍ အသင်တို့သည် အိပ်မက်ဒိဗ်စုမ်ကိုပြော၍ ပြတတ်ကြပါလျှင် ငါ၏ (ဤမည်သော) အိပ်မက်ဒိဗ်စုမ်ကို ငါ့အား တင်လျှောက်ကြလေကုန်ဟု ပြောကြားခဲ့လေ၏။ ၁

وَقَالَ الْمَلِكُ إِنِّيٓ أَرَىٰ سَبْعَ بَقَرَٰتٍ سِمَانٍ يَأْكُلُهُنَّ سَبْعٌ عِجَافٌ وَسَبْعَ سُنۢبُلَٰتٍ خُضْرٍ وَأُخَرَ يَابِسَٰتٍ ۖ يَٰٓأَيُّهَا الْمَلَأُ أَفْتُونِي فِي رُءْيَٰيَ إِن كُنتُمْ لِلرُّءْيَا تَعْبُرُونَ ﴿٤٣﴾

၄၄။ (ထိုရောကာလ) ယင်းမှူးကြီးမတ်ရာတို့က (အို-ဘုရင်မင်းမြတ် ဤကား) ဂယောင်ဂယက် မြင်မက်သော အိပ်မက်မျှသာဖြစ်ပါသည်။ ၎င်းပြင် ကျွန်တော်မျိုးတို့မှာမူကား ဂယောင်ဂယက် အိပ်မက်များ၏ဒိဗ်စုမ်ကို နားလည်သူများလည်း မဟုတ်ကြပါ ဟု လျှောက်ထားခဲ့ကြလေသတည်း။

قَالُوٓا أَضْغَٰثُ أَحْلَٰمٍ ۖ وَمَا نَحْنُ بِتَأْوِيلِ الْأَحْلَٰمِ بِعَٰلِمِينَ ﴿٤٤﴾

---

➤➤ ဤအာယတ်တော် (၁၂း၄၂) တွင် လာရှိသည့်အတိုင်း 'ရှိုင်တွာန်က ထိုလုလင်အား မေ့စေခဲ့သည်'ဟု သုံးနှုန်းထားတော်မူခြင်းမှာ ရှိုင်တွာန်သည် တွေဝေမိုက်မောစေသည့် အတွေးအခေါ် အကြံအစည် စသည်များကို စိတ်တွင်ပေါ်ပေါက်စေပြီး မေ့စေခြင်း၏ အကြောင်းတရားဖြစ်နေခြင်းကြောင့်ပင်ဖြစ်သည်။ ဤသို့သော အသုံးအနှုန်းကို ကုရ်အာန်ကျမ်းမြတ် (၁၈း၆၃) တွင်လည်း တွေ့ရှိရပေသည်။

(၁) **အီဂျစ်ဘုရင် အိပ်မက်မြင်မက်ခြင်း။**

တစ်နေ့သောအခါ အီဂျစ်ဘုရင် (ရိုင်ယာန် အိဗ်နူအလ်ဝလီဒ်)သည် အိပ်မက်တွင် ဝဖြိုးသော နွားမခုနစ်ကောင်ကို ပိန်ချုံးသော နွားမခုနစ်ကောင်က စားသည်။ ၎င်းပြင် စိမ်းစိုသော စပါးနှံခုနစ်နှံကို သွေ့ခြောက်သော စပါးနှံ ခုနစ်နှံက ရစ်ပတ်၍ သွေ့ခြောက်စေသည်ဟူ၍ မြင်မက်လေသည်။

ဘုရင်မင်းမြတ်သည် ယင်းသို့ ထူးဆန်းအံ့ဩဖွယ် အိပ်မက်ကို မြင်မက်သောအခါ မှူးမတ်တို့အား မိမိ၏ အိပ်မက်ဒိဗ်စုမ်ကို မေးမြန်းလေသည်။ ဤသည့် အိပ်မက်သည် တမန်တော်ယူစွဖ် အကျဉ်းထောင်မှ လွတ်မြောက်ရန် အကြောင်းလာ၍ ဖြစ်ခဲ့လေသည်။

وَقَالَ الَّذِي نَجَا مِنْهُمَا وَادَّكَرَ بَعْدَ أُمَّةٍ أَنَا أُنَبِّئُكُم بِتَأْوِيلِهِ فَأَرْسِلُونِ ﴿٤٥﴾

၄၅။ ထိုအခါ ယင်း(အကျဉ်းချထားခြင်း ခံခဲ့ကြသော) လုလင်နှစ်ဦးအနက် ပြန်၍ လွတ်မြောက်ခဲ့သောလုလင်သည် ကာလအတော်ကြာပြီးနောက်သော်မှပင် သတိရလာ၍ ထိုအိပ်မက်၏ဒိဗ်စမ်ကို ဘုရင်မင်းမြတ်တို့အား ကျွန်တော်မျိုးတစ်ဆင့်ပြောပြပါမည်။ သို့ပါ၍ အရှင်မင်းမြတ်သည် ကျွန်တော်မျိုးအား သွားခွင့်ပြုတော်မူပါ ဟု လျှောက်ထားခဲ့လေ၏။ ၁

يُوسُفُ أَيُّهَا الصِّدِّيقُ أَفْتِنَا فِي سَبْعِ بَقَرَاتٍ سِمَانٍ يَأْكُلُهُنَّ سَبْعٌ عِجَافٌ وَسَبْعِ سُنبُلَاتٍ خُضْرٍ وَأُخَرَ يَابِسَاتٍ لَّعَلِّي أَرْجِعُ إِلَى النَّاسِ لَعَلَّهُمْ يَعْلَمُونَ ﴿٤٦﴾

၄၆။ (အကျဉ်းထောင်သို့ ရောက်လတ်သော် ထိုလုလင်သည် တမန်တော်ယူစွဖ်အား ဤသို့ ပြောဆိုလေ၏။) အို-ယူစွဖ်၊ အို-သစ္စာဝါဒီ၊ အသင်သည် ကျွန်ုပ်တို့အား ဝဝဖြိုးဖြိုးရှိသော နွားမခုနစ်ကောင်ကို ပိန်ချုံးသော နွားမခုနစ်ကောင်သည် စား၍နေသည်။ ၎င်းပြင် စိမ်းစိုသော စပါးနှံခုနစ်နှံနှင့် ခြောက်သွေ့သော စပါးခုနစ်နှံဖြစ်ကုန်သည်။ (မြင်မက်သောအိပ်မက်)နှင့် စပ်လျဉ်း၍ (ဒိဗ်စမ်ကို) ရှင်းလင်း ပြောပြပါလေ။ သို့မှသာလျှင် ကျွန်ုပ်သည် လူများထံပြန်နိုင်၍လူများလည်း (အသင်၏ မြင့်မြတ်လှသောဂုဏ်အင်များကို) သိနားလည်နိုင်ကြပေမည်ဖြစ်သတည်း။

قَالَ تَزْرَعُونَ سَبْعَ سِنِينَ دَأَبًا فَمَا حَصَدتُّمْ فَذَرُوهُ فِي سُنبُلِهِ إِلَّا قَلِيلًا مِّمَّا

၄၇။ ထိုယူစွဖ်သည် (အိပ်မက်ဒိဗ်စမ်ကို ဤသို့ ရှင်းလင်း၍) ပြောပြလေသည်။ အသင်တို့သည် (မိမိတို့စိုက်ပျိုးနေကျအတိုင်း) ခုနစ်နှစ်တိုင်တိုင် (မိမိတို့ လယ်ယာများကို) အဆက်မပြတ် စိုက်ပျိုးကြလေကုန်။

(၁) ထိုလုလင်သည် လျှောက်ထားသည့်အတိုင်း ခွင့်ရရှိသောအခါ အကျဉ်းထောင်၌ တမန်တော်ယူစွဖ်ထံသို့ သွားရောက်ပြီးလျှင် ရှေ့လာလတ္တံ့သော အာယတ်တော်၌ ပါရှိသည့်အတိုင်း ဘုရင် မင်းမြတ်၏ အိပ်မက်ဒိဗ်စမ်ကို မေးမြန်းလေတော့သည်။

تَأْكُلُونَ ﴿٤٧﴾

သို့ရှိရာ အသင်တို့သည် မိမိတို့ ရိတ်သိမ်းသော ကောက်လှိုင်းများအနက် မိမိတို့စားသုံးရန်ဖြစ်သောအနည်းငယ်မျှမှအပ ကျန်ရှိသော ကောက်လှိုင်းများကို ကောက်လှိုင်းအတိုင်းပင် ထားရှိကြလေကုန်။

ثُمَّ يَأْتِي مِنْ بَعْدِ ذَٰلِكَ سَبْعٌ شِدَادٌ يَأْكُلْنَ مَا قَدَّمْتُمْ لَهُنَّ إِلَّا قَلِيلًا مِمَّا تُحْصِنُونَ ﴿٤٨﴾

၄၈။ ထို့နောက် တစ်ဖန် (ဒုဗ္ဘိက္ခန္တရကပ်ဆိုက်၍) ပြင်းထန်လှသော ခုနစ်နှစ်သည် ဆိုက်ရောက်လာပေမည်။ ထိုနှစ်ကာလခုနစ်နှစ်သည် အသင်တို့ (မျိုးစေ့အလို့ငှာ) သိမ်းထားကြသည့် အနည်းငယ်မျှ(သောရိက္ခာ)မှအပ အသင်တို့ ကြိုတင် စုဆောင်းထားသည့်(ရိက္ခာ)များကို စားသုံးပစ်ကြပေမည်။

ثُمَّ يَأْتِي مِنْ بَعْدِ ذَٰلِكَ عَامٌ فِيهِ يُغَاثُ النَّاسُ وَفِيهِ يَعْصِرُونَ ﴿٤٩﴾

၄၉။ ထို့နောက်တစ်ဖန် နောက်တစ်နှစ် ရောက်လတ်သော် ထိုနှစ်တွင်မူ လူတို့သည် (ကောင်းမွန်စွာ) မိုးရွာသွန်းစေခြင်းကို ခံကြရသည့်ပြင် ထိုနှစ်တွင် ၎င်းတို့သည် စပျစ်ရည်များလည်း ညှစ်ကြပေမည် ဖြစ်သတည်း။ [၁]

---

(၁) **တမန်တော်ယူစွဖ်က အိပ်မက်ဒိဗ်စုမ်ပြော၍ ကောင်းမြတ်သော အကြံဉာဏ်နှင့်ကောင်းချီးသတင်းပေးခြင်း။**

တမန်တော်ယူစွဖ်၏မှာကြားချက်ကို မေ့နေခဲ့သောလုလင်သည် နှစ်အတန်ကြာပြီးနောက်တွင် သတိရ၍ တမန်တော်ယူစွဖ်ထံ လာရောက်ပြီး ဘုရင်မင်းမြတ်၏ အိပ်မက်ဒိဗ်စုမ်ကို မေးမြန်းသောအခါ တမန်တော်ယူစွဖ်သည် တမန်တော်တစ်ပါးပီပီ မိမိ၏မှာကြားချက်ကို အမေ့ကြီး မေ့နေခဲ့သောသူအား တစ်ခွန်းတပါဒမျှ အပြစ်မဆို၊ အိပ်မက်ဒိဗ်စုမ် ဟောရန်လည်း တစ်စုံတစ်ရာ အခကြေးငွေမယူ၊ စည်းကမ်းချက် တစ်စုံတစ်ရာမထား၊ အချိန်လည်းမဆွဲဘဲ၊ ကြည်ဖြူစွာ (၁) အိပ်မက်၏ ဒိဗ်စုမ် ဟောပြောသည်သာမက (၂) ကောင်းမြတ်သော အကြံဉာဏ်နှင့် (၃) ကောင်းချီးသတင်းတစ်ရပ်ကိုလည်း ပေးလိုက်လေသည်။ ဤသည်တို့ကို ထောက်ရှုခြင်းအားဖြင့် တမန်တော်များ၏ စိတ်နေသဘောထား ကိုယ်ကျင့်တရား အဘယ်မျှ ကောင်းမွန်မြင့်မြတ်သည်ကို စဉ်းစားကြည့်နိုင်ပေသည်။

တမန်တော်ယူစွဖ်(အလိုင်ဟစ္စလာမ်)၏ အဖြေ၏အချုပ်သဘောမှာ ဝဖြိုးသော နွားမခုနစ်ကောင်နှင့် စိမ်းစိုသော စပါးနှံခုနစ်နှံသည် အဆက်မပြတ် ဥတုရာသီကောင်းမွန်၍ သာယာစိုပြေသော ခုနစ်နှစ်ဖြစ်သည်။ ဥတုရာသီ စိုပြေသည့် ထိုခုနစ်နှစ်တွင် လယ်ယာကိုင်းကျွန်းများ ကောင်းစွာ စိုက်ပျိုးနိုင်ကြမည်။ အသီးအနှံများ ကောင်းစွာရရှိကြမည်။ သီးနှံများနှင့်တကွ ကျွဲ၊ နွား၊ သိုး၊ ဆိတ် စသည့်တိရစ္ဆာန်များလည်း ➤➤

وَقَالَ الْمَلِكُ ائْتُونِي بِهِ ۖ فَلَمَّا جَاءَهُ الرَّسُولُ قَالَ ارْجِعْ إِلَىٰ رَبِّكَ فَاسْأَلْهُ مَا بَالُ النِّسْوَةِ

၅၀။ ထို့နောက်ဘုရင်မင်းက အသင်တို့သည် ထိုယူစွဖ်အား ငါ့ထံသို့ ပင့်ဆောင်ခဲ့ကြလေကုန် ဟု မိန့်ကြားခဲ့လေသည်။ တဖန် စေတမန်သည် ထိုယူစွဖ် ထံသို့ရောက်ရှိလေသော် ထိုယူစွဖ်က(စေတမန်အား) အသင်သည် မိမိသခင်ထံသို့ ပြန်၍သွားပါလေ။

➤➤ ဝဝဖြိုးဖြိုး ရှိကြမည်။ ထိုသို့ ဥတုရာသီ ကောင်းမွန်စိုပြေသော ခုနစ်နှစ်ကျော်လွန်သောအခါ ခုနစ်နှစ်တိုင်တိုင် မိုးလေဝသ ခေါင်းပါးမည်။ ထိုသို့ မိုးလေဝသ ခေါင်းပါးမည့် ခုနစ်နှစ်တွင် ယခင်မိုးလေဝသ ကောင်းစဉ်က စုဆောင်းသိုလှောင် ထိန်းသိမ်းထားခဲ့ကြသည့် စားနပ်ရိက္ခာများကို စားသုံးကြရမည်ဖြစ်သည်။ နောက်နှစ်များအဖို့ မျိုးစပါးအဖြစ် သိမ်းဆည်းထားမည့် အနည်းငယ်မျှသာ အသီးအနှံသာ ကျန်မည်။ ပိန်ချုံးသော နွားမခုနစ်ကောင်နှင့် သွေ့ခြောက်သော စပါးခုနစ်နှံသည် မိုးလေဝသခေါင်းပါးမည့် ခုနစ်နှစ်ဖြစ်သည်။

ပိန်ချုံးသော နွားမခုနစ်ကောင်က ဝဖြိုးသောနွားမခုနစ်ကောင်ကို ဝါးမျိုခြင်း၊ သွေ့ခြောက်သော စပါးနှံခုနစ်နှံက စိမ်းစိုသော စပါးနှံခုနစ်နှံကို ရစ်ပတ်ခြောက်သွေ့စေခြင်းသည် မိုးလေဝသကောင်းသည့် ခုနစ်နှစ်တွင် စုဆောင်းထားခဲ့ကြသည့် စားနပ်ရိက္ခာများကို မိုးလေဝသ ခေါင်းပါးမည့် ခုနစ်နှစ်အတွင်း စားသုံးကုန်ခန်းခြင်းဖြစ်သည်။

တမန်တော်ယူစွဖ်သည် ယင်းကဲ့သို့ အိပ်မက်ဒိဗ်စမ် ဟောကြားသည့်အတွင်းမှာပင် သတ္တဝါအပေါင်းတို့အား စာနာထောက်ထား သနားကြင်နာသော စေတနာဖြင့် ကောင်းမြတ်သော အကြံဉာဏ်ပေးခဲ့သည်မှာ အသင်တို့သည် မိုးလေဝသကောင်းမည့် ခုနစ်နှစ်အတွင်း ရရှိမည့် စားနပ်ရိက္ခာများကို ကောင်းစွာ ထိန်းသိမ်းထားကြရမည်။ စားသုံးရန် လိုသမျှကိုသာထုတ်၍ ခြိုးခြံစွာ စားသုံးကြရမည်။ ကျန်အသီးအနှံများကို ကောက်လှိုင်းအခွံများ၌ပင် ထားရှိကြရမည်။ ဤသို့ထားမှသာလျှင် ပိုးကျမည်မဟုတ်ပေ။ ပျက်စီးမည် မဟုတ်ပေ။ ဤသို့ ကောင်းမွန်စွာ ထိန်းသိမ်းမထားကြလျှင် မိုးလေဝသခေါင်းပါးမည့် ခုနစ်နှစ်တွင် ဒုက္ခကြီးငယ်များနှင့် မုချ ရင်ဆိုင်ကြရမည် ဖြစ်သည်။

ဤကဲ့သို့ ကောင်းမြတ်သော အကြံဉာဏ်ပေးပြီး နောက်တစ်ဖန် တမန်တော်ယူစွဖ် (အလိုင်ဟစ္စလာမ်) သည် ကောင်းချီးသတင်းတစ်ရပ် ပြောကြားပြန်သည်မှာ ယင်းသို့ ခုနစ်နှစ်တိုင်တိုင် မိုးလေဝသ ခေါင်းပါးပြီးနောက်၊ ဆိုက်ရောက်လာမည့် နှစ်သည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ဖြင့် မိုးလေဝသ အလွန်ကောင်းမည် ဖြစ်သည်။

လယ်ယာကိုင်းကျွန်းများ အလွန်စိုပြေမည်။ အသီးအနှံ အလွန်ပေါများသည်။ တိရစ္ဆာန်များလည်း အလွန်ဝဖြိုးမည်။ နို့ရည်များလည်း အလွန်ပေါများမည်။ အရည်ညှစ်ရသည့် စပျစ်သီးစသည့် အသီးအနှံများလည်း အလွန်ပေါများမည် ဖြစ်သည့်အတွက် တိုင်းသူ ပြည်သား လူအများတို့သည် အရက်သေစာကိုလည်း ဖောဖောသီသီ သောက်သုံးကြရမည် ဖြစ်သည်။

နောက်ဆုံးစကားသည် လာရောက်မေးမြန်းသော လုလင်၏အခြေအနေအရ ပြောကြားလိုက်ခြင်းပင် ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ထိုလုလင်သည် စပျစ်ရည်ညှစ်၍ ဘုရင်မင်းမြတ်အား ဆက်ကပ်ရသူ တစ်ဦးဖြစ်လေသည်။

الّٰتِىْ قَطَّعْنَ اَيْدِيَهُنَّ ؕ اِنَّ رَبِّىْ بِكَيْدِهِنَّ عَلِيْمٌ ۝٥٠

ထို့နောက် အသင်သည် ထိုဘုရင်အား 'မိမိ လက်များကိုလှီးခဲ့ကြသော အမျိုးသမီးတို့၏(လက်ရှိ) အခြေအနေသည် မည်သို့ရှိပါသနည်း' ဟု *လျှောက်ထားမေးမြန်းပါလေ။* ^၁ ကေန်အမှန် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ထိုအမျိုးသမီးတို့၏ ပရိယာယ်မာယာကို ကောင်းစွာ သိရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

**(၁) ဘုရင်မင်းမြတ်က တမန်တော်ယူစွဖ်အား ဖိတ်ခေါ်ခြင်း**

အီဂျစ်ဘုရင်မင်းမြတ်သည် ရေကြည်ဝန်၏ လျှောက်ထားချက်များကြောင့် ယခင်ကပင် တမန်တော်ယူစွဖ်အား ကြည်ညိုခဲ့ပြီး ဖြစ်လေသည်။ ယခုတစ်ဖန် လျှောက်ကန်သင့်မြတ်၍ စိတ်နှလုံးသားကို ထိတွေ့နေသည့် အိပ်မက်၏ဒိဗ်ခုမ်နှင့် တိုင်းသူပြည်သားတို့အား သနားကြင်နာသော စေတနာဖြင့် ပေးလိုက်သော မွန်မြတ်လှသည့် အကြံဉာဏ်ကို ကြားသိရသောအခါ တမန်တော်ယူစွဖ်၏ အသိဉာဏ်အမြော်အမြင် ကြီးမားပုံ၊ စိတ်နေသဘောထား မြင့်မြတ်ပုံ၊ ကိုယ်ကျင့်တရား ကောင်းမြတ်ပုံများကို ပိုမိုယုံကြည်လေးစားလာခဲ့လေသည်။

ထိုအခါ ဘုရင်မင်းမြတ်သည် မိမိကိုယ်တိုင် တမန်တော်ယူစွဖ်အား တွေ့လိုခြင်း၊ ချီးမြှင့်လိုခြင်းကြောင့် တမန်တော်ယူစွဖ်ထံသို့ စေတမန်လွှတ်၍ တမန်တော်ယူစွဖ်အား ဖိတ်ခေါ်ခဲ့လေသည်။ စေတမန်သည် ဘုရင့်အမိန့်တော်အရ တမန်တော်ယူစွဖ်ထံ လာရောက်၍ ဘုရင်မင်းမြတ်ထံကြွပါရန် ဖိတ်ကြားလေသည်။

**တမန်တော်ယူစွဖ်က ဘုရင်၏ဖိတ်ကြားချက်ကိုရုတ်တရက် လက်မခံသေးဘဲ အမျိုးသမီးတို့နှင့် မိမိ၏ပြဿနာကို ပထမဖြေရှင်းရန် ဘုရင်မင်းမြတ်ထံ ပန်ကြားခြင်း**

ထိုအခါ တမန်တော်ယူစွဖ်သည် ဘုရင်မင်းမြတ်၏ ဖိတ်ကြားချက်ကို ရုတ်တရက် ချက်ခြင်းလက်မခံသေးဘဲ စေတမန်အား အသင်သည် ဘုရင်မင်းမြတ်ထံပြန်၍ မိမိတို့၏ လက်ချောင်းများကို လှီးဖြတ်ကြသော အမျိုးသမီးတို့၏ အခြေအနေကို စုံစမ်းတော်မူရန် ပြန်လည်လျှောက်ထားရန် ပြောကြား၍ တည်ကြည်စွာ အရေးဆိုခဲ့လေသည်။ ဤကဲ့သို့ပြုလုပ်ခြင်းမှာ တမန်တော်ယူစွဖ်၏အမြင်၌ သာသနာရေးနှင့် ကိုယ်ကျင့်တရားတွင် မြင့်မြတ်မှု၊ သန့်ရှင်းမှုသည် လောကီရေးဆိုင်ရာ အလွန်ကြီးကဲသော ဂုဏ်အင်ဒြပ်များထက်ပင် ပိုမိုအရေးကြီးပေသည်။ တမန်တော်ယူစွဖ်သည် တမန်တော်တပါးဖြစ်ခဲ့သည်။ တမန်တော်တပါးနှင့်ပတ်သက်၍ သာမန်အထင်အမြင်မှားမှုသည် တရားဓမ္မသွန်သင်ဆုံးမရာတွင် အကြီးအကျယ် အဟန့်အတားဖြစ်သည်။ အကယ်၍ တမန်တော်ယူစွဖ်သည် အီဂျစ်အမျိုးသားတို့၏ ပရိယာယ်မာယာကြောင့် အကျဉ်းထောင်တွင် နှစ်အတော်ကြာနေခဲ့ရသည့် ပြဿနာကို ပြတ်သားစွာမဖြေရှင်းဘဲ ဘုရင်မင်းမြတ်၏ဖိတ်ကြားချက်ကို ရုတ်တရက် ချက်ချင်း အကျဉ်းထောင်မှ ထွက်သွားခဲ့သည်ရှိသော် နောင်တချိန်တွင် ဖြစ်ရပ်မှန်ကို မသိသောသူများသည် တမန်တော်ယူစွဖ်၏ ကာယိန္ဒြေ ဂုဏ်သိက္ခာနှင့်စပ်လျဉ်း၍ ဇဝေဇဝါဖြစ်ကြပေမည်။ အမျိုးမျိုး တွေးထင်ကြပေမည်။ မလိုမုန်းတီးသောသူများသည် တချိန်တွင် ဤသည့် အခြေအမြစ်မရှိသော စကားများကိုအကြောင်းပြုပြီး တမန်တော်ယူစွဖ်အားဆန့်ကျင်ရန် ပြဿနာတစ်ခုမဟုတ်တစ်ခု ဖန်တီးကြဦးမည်ဖြစ်သည်။ ထို့အတွက်ကြောင့်လည်း တမန်တော်ယူစွဖ်သည် အမျိုးသမီးတို့၏ပြဿနာကို ဦးစွာပထမပြတ်သားစွာ ဖြေရှင်းပေးရန် ➤➤

قَالَ مَا خَطْبُكُنَّ إِذْ رَاوَدْتُّنَّ يُوسُفَ عَنْ نَّفْسِهٖ ۚ قُلْنَ حَاشَ لِلّٰهِ مَا عَلِمْنَا عَلَيْهِ مِنْ سُوْٓءٍ ۚ قَالَتِ امْرَاَتُ الْعَزِيْزِ الْـٰٔنَ حَصْحَصَ الْحَقُّ ۡ اَنَا رَاوَدْتُّهٗ عَنْ نَّفْسِهٖ وَاِنَّهٗ لَمِنَ الصّٰدِقِيْنَ ﴿٥١﴾

၅၁။ (ထိုအခါ) ဘုရင်မင်းမြတ်က (ထိုမိန်းမတို့အား) အသင်တို့သည် ယူစွဖ်အား ၎င်းကိုယ်တိုင်နှင့်ဆန့်ကျင်ကာ ချော့မော့၍ မြှူဆွယ်ခဲ့ကြစဉ်အခါ၌ အသင်တို့၏ အဖြစ်မှန်သည် မည်သို့ရှိခဲ့သနည်းဟု မေးမြန်းလေ၏။ (ထိုအခါ) ယင်းမိန်းမတို့က အလ္လာဟ်အရှင်မြတ်သည် အပြစ်ကင်းစေတော်မူ၍ အံ့ချီးမဆုံး ပြုနိုင်စွမ်းတော်မူပါဘိတကား။ ကျွန်ုပ်တို့သည် ထိုယူစွဖ်၏အပေါ်၌ မည်သည့်တစ်စုံတစ်ရာမကောင်းမှု (ရှိသည်ကို) မသိရှိခဲ့ကြပါဟု လျှောက်ထားခဲ့ကြကုန်၏။ (ထိုရောကာလ) အဇီဇ်၏ကြင်ရာသည် (ဤသို့) လျှောက်ထားခဲ့လေ၏။ ယခုသော်ကား (အဖြစ်အပျက်)အမှန်သည် ထင်ရှားသွားလေပြီ။ ကျွန်ုပ်သည်သာလျှင် ယင်းယူစွဖ်အား ၎င်းကိုယ်တိုင်နှင့် ဆန့်ကျင်၍ဖြစ်သည်။ ချော့မော့ မြှူဆွယ်ခဲ့ပါသည်။ ၎င်းပြင် ဧကန်မလွဲ ထိုယူစွဖ်မှာမူကား သစ္စာဝါဒီတစ်ဦး မုချ ဖြစ်ပါသတည်း။ ၁

➤➤ ဘုရင်မင်းမြတ်၏ ဖိတ်ကြားချက်ကို ရုတ်တရက် ချက်ချင်း လက်မခံသေးဘဲ ကြီးစွာသော ဖွဲ့သတ္တိဖြင့် အရေးဆိုခဲ့လေသည်။

**(၁) ဘုရင်မင်းမြတ်က အမျိုးသမီးတို့အား ဆင့်ခေါ်မေးမြန်းခြင်း။**

တမန်တော်ယူစွဖ်၏ ပန်ကြားချက်အရ ဘုရင်မင်းမြတ်သည် သက်ဆိုင်ရာ အမျိုးသမီးတို့အား ဆင့်ခေါ်ပြီး တမန်တော်ယူစွဖ်နှင့်ပတ်သက်၍ မည်သို့မည်ပုံ ဖြစ်ပျက်ခဲ့သည်များကို မေးမြန်းလေသည်။ တမန်တော်ယူစွဖ်သည် ဖွဲ့သတ္တိကြီးစွာဖြင့် အရေးဆိုနေသည်ကိုလည်း ဘုရင်မင်းမြတ် ရိပ်စားမိ၏။ ရေကြည်ဝန်နှင့် အခြား မှူးမတ်တို့ လျှောက်ထားချက်များကို ကြားနှင့်ပြီးဖြစ်သည့်အတွက် တမန်တော် ယူစွဖ်၌ အပြစ်တစ်စုံတစ်ရာ မရှိကြောင်း၊ အမျိုးသမီးတို့၏ ပရိယာယ် မာယာမျှသာ ဖြစ်ကြောင်းကိုလည်း ဘုရင်မင်းမြတ်သည် ကြိုတင်သိနှင့်ပြီးဖြစ်၏။ ထို့အတွက်ကြောင့်ပင် ဘုရင်မင်းမြတ်က ဖြစ်ရပ်မှန်ကို ကြိုတင် သိနှင့်ပြီးဖြစ်သည့်အနေဖြင့် အမျိုးသမီးတို့အား 'အသင်တို့သည် ယူစွဖ်ကို မြှူဆွယ်ခဲ့ကြစဉ်က အသို့ဖြစ်ကြ သနည်း'ဟု စတင်မေးမြန်းခြင်းဖြစ်သည်။

ထိုအခါ အမျိုးသမီးများက တညီတညွတ်တည်းပင် (တမန်တော်) ယူစွဖ်၌ အပြစ်တစ်စုံတစ်ရာ မရှိကြောင်း ဝန်ခံလျှောက်ထားကြလေသည်။ ထိုအချိန်၌ ဤကိစ္စတွင် ပထမတရားခံဖြစ်သော ကာယကံရှင်လည်းဖြစ်သော အဇိဇ်မင်းကြီး၏ကြင်ရာ ဇလေခါကလည်း ထိမ်ချိန်ကွယ်ဝှက်၍ မဖြစ်သာသည့်အဆုံးတွင် ➤➤

ذٰلِكَ لِيَعۡلَمَ أَنِّي لَمۡ أَخُنۡهُ بِٱلۡغَيۡبِ وَأَنَّ ٱللَّهَ لَا يَهۡدِي كَيۡدَ ٱلۡخَآئِنِينَ ٥٢

၅၂။ ဤ(သို့ အပြစ်ကင်းကြောင်းကို ထင်ရှားစေခြင်းသည်)ကား ထိုအဇိဇ်သည် ၎င်း၏နောက်ကွယ်ရာတွင် ၎င်းအား ကျွန်ုပ် အမှန်ပင် သစ္စာမဖောက်ခဲ့ကြောင်း ၎င်းပြင် ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် သစ္စာဖောက်သောသူတို့၏ အကြံအစည်ကို (အထမြောက် အောင်မြင်စေရန်အလို့ငှာ) နည်းလမ်းပေးတော်မူသည်မဟုတ်ကြောင်း (ပိုမိုကောင်းမွန်စွာ) သိနားလည်ရန် ဖြစ်ပေသတည်း။[၁]

---

➤➤ အမှန်မှာ ကျွန်မကသာ ယူစွဖ်ကို မြူဆွယ်ခဲ့ခြင်းဖြစ်ပါသည်။ ယူစွဖ်သည် အမှန်ပင် သစ္စာဝါဒီတစ်ဦးဖြစ်ပါသည်။ အနည်းငယ် စိုးစဉ်းမျှ သစ္စာမမဲ့ပါ ဟု အတိအလင်း ဝန်ခံလျှောက်ထားလေသည်။ ဤသို့အားဖြင့် တမန်တော်ယူစွဖ်သည် 'ပတ္တမြားမှန်လျှင် နွံမနစ်' ဆိုသကဲ့သို့ တမန်တော်တပါးပီပီ ကာယိန္ဒြေ၊ ဂုဏ်သိက္ခာ၊ သစ္စာသမာဓိနှင့် ပြည့်စုံကြောင်း မိတ်ဆွေများက မဆိုထားဘိ မိမိအား ရန်ရှာနေသောသူများကပင်လျှင် ထုတ်ဖော်ဝန်ခံကြရလေပြီ။ အမှန်သည် အမှန်ပင်ဖြစ်၏။ အမှားမဖြစ်။

(၁) ဤကဲ့သို့ တမန်တော်ယူစွဖ်(အလိုင်ဟစ္စလာမ်)က ဘုရင်မင်းမြတ်အား သက်ဆိုင်ရာ အမျိုးသမီးတို့ကို စုံစမ်းမေးမြန်းရန် ပန်ကြားခြင်းမှာ မိမိသည် အဇိဇ်မင်းကြီး၏ နောက်ကွယ်ရာတွင် သစ္စာမမဲ့ခဲ့ကြောင်းကို အဇိဇ်မင်းကြီး ပိုမို သိရှိယုံကြည်သွားစေရန်နှင့် သစ္စာမဲ့သူများ၏ အကြံအစည် ပရိယာယ်မာယာ လိမ်လည်လှည့်ဖြားမှုများကိုလည်း အလ္လာဟ်အရှင်မြတ်သည် အောင်မြင်စေရန် ဘယ်သောအခါ၌မျှ လမ်းစပေးတော်မူသည် မဟုတ်ကြောင်းကို သူငါအများ သိရှိသွားစေရန်ပင်ဖြစ်သည်။

နောက်ဆုံး ဤကိစ္စတွင် တမန်တော်ယူစွဖ်(အလိုင်ဟစ္စလာမ်)သည် စံမတူအောင် မိမိ၏ကာယိန္ဒြေကို ထိန်းသိမ်းနိုင်ခဲ့ကြောင်းကို မိမိ၏မိတ်ဆွေများကသာ မဆိုထားဘိ၊ မိမိအား ရန်ရှာနေခဲ့ကြသော အမျိုးသမီးကြီးငယ်တို့ကပင် အတိအလင်း ဝန်ခံသွားခဲ့ကြသည့်အကြောင်းနှင့် သစ္စာမဲ့ခဲ့ကြသော ဇလေခါနှင့် အပေါင်းပါ အမျိုးသမီးတို့၏ အကြံအစည်မှာလည်း 'ခဲလေသမျှ သဲရေကျ' ဖြစ်သွားခဲ့သည့်အကြောင်းမှာ လယ်ပြင်မှာ ဆင်သွားသည့်အလား အထင်အရှားဖြစ်သွားခဲ့လေသည်။

وَمَآ أُبَرِّئُ نَفۡسِيٓۚ إِنَّ ٱلنَّفۡسَ لَأَمَّارَةُۢ بِٱلسُّوٓءِ إِلَّا مَا رَحِمَ رَبِّيٓۚ إِنَّ رَبِّي غَفُورٞ رَّحِيمٞ ﴿٥٣﴾

၅၃။ စင်စစ်သော်ကား ကျွန်ုပ်သည် မိမိကိုယ်ကို အပြစ်မှကင်းလွတ်သည်ဟု မဆိုလိုပေ။ အကြောင်းသော်ကား ဧကန်မလွဲ စိတ်နှလုံးများသည် မကောင်းမှုကို အလွန် အမိန့်ပေး တိုက်တွန်းလေ့ရှိကြသောကြောင့်ပင်။ သို့ရာတွင် ကျွန်ုပ်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်က သနားကရုဏာပြုတော်မူသည့် (စိတ်နှလုံးမှာမူ အပြစ်မှလွတ်ကင်းနိုင်ပေသည်။) မလွဲဧကန် ကျွန်ုပ်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့်ပေးသနားတော်မူသောအရှင်၊ အလွန်တရာ သနားကရုဏာပြုတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။ [၁]

(၁) တမန်တော်ယူစွဖ်သည် မိမိ၌ အပြစ်မရှိကြောင်း ထင်ရှားစေရန် အထူးတလည် ကြိုးပမ်းခဲ့၏။ ဤသည်ကို အတွေးတိမ်သော သာမန်လူများသည် ကြွားဝါခြင်း၊ မာနရှိခြင်း၊ မိမိကိုယ်ကို မိမိအထင်ကြီးခြင်းဟူ၍ ထင်မှားနိုင်ကြပေသည်။ ထို့အတွက် ဤအာယတ်တော်တွင် တမန်တော် ယူစွဖ်က– ကျွန်ုပ်သည် မကြွားဝါကြောင်း၊ ဤကဲ့သို့ အပြစ်ကင်းစွာ နေနိုင်ခြင်းမှာ မိမိကိုယ်ကို မိမိအားထား၍ မဟုတ်ကြောင်း၊ ဤသို့ နေနိုင်ခြင်းမှာ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော် ကြောင့်သာလျှင်ဖြစ်ကြောင်း တမန်တော်အပေါင်းတို့သည် အပြစ်များမှ ကင်းနိုင်ကြခြင်းမှာလည်း ဤသည့် ကရုဏာတော်သာလျှင် အဓိကဖြစ်ကြောင်း၊ သို့မဟုတ်ပါမူ လူသား၏စိတ်သည် ယေဘုယျအားဖြင့် မကောင်းမှုများကို တိုက်တွန်းနှိုးဆော်သည်သာ ဖြစ်ကြောင်း အကယ်၍ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော် မရှိခဲ့ပါမူ ကျွန်ုပ်၏စိတ်သည်လည်း အခြား သူတို့၏ စိတ်များကဲ့သို့ ဖြစ်မည်သာဖြစ်ကြောင်းကို အတိအလင်း ထုတ်ဖော်မိန့်ကြားတော်မူခြင်း ဖြစ်သည်။

"နဖ်စ်"ခေါ် စိတ်သည် သုံးမျိုး သုံးစားရှိသည်။

(၁) အမ္မာရဟ်၊

(၂) လောင်ဝါမဟ်၊

(၃) မွတ္မအင်န်နဟ်။

( إِنَّ رَبِّي غَفُورٞ رَّحِيمٞ ) "ဧကန်အမှန် ကျွန်ုပ်၏အရှင်သခင်သည် အကြိမ်ကြိမ်ချမ်းသာခွင့်ပေးတော်မူသောအရှင်၊ အလွန်သနားကြင်နာ ညှာတာတော်မူသောအရှင် ဖြစ်တော်မူသည်" ဟူသော အာယတ်တော်တွင် ပထမဂုဏ်တော်နှင့်အညီ 'အမ္မာရဟ်'သည် ဝန်ချတောင်းပန်၍ 'လောင်ဝါမဟ်' ဖြစ်သွားပါလျှင် အလ္လာဟ်အရှင်မြတ်သည် ယခင်ပြစ်မှုများကို ချမ်းသာခွင့်ပေးတော်မူကြောင်း၊ ထို့မှုမက ဒုတိယ ဂုဏ်တော်နှင့်အညီ မိမိ၏ကျေးဇူးတော်ဖြင့် တဖြည်းဖြည်း 'လောင်ဝါမဟ်' ကိုပင် 'မွတ္မအင်န်နဟ်'၏ အဖြစ်သို့ ရောက်ရှိစေတော်မူကြောင်း ညွှန်ကြားထားတော်မူသည်။

وَقَالَ الْمَلِكُ ائْتُونِي بِهِ أَسْتَخْلِصْهُ لِنَفْسِي ۖ فَلَمَّا كَلَّمَهُ قَالَ إِنَّكَ الْيَوْمَ لَدَيْنَا مَكِينٌ أَمِينٌ ﴿٥٤﴾

၅၄။ ထိုအခါ ဘုရင်မင်းမြတ်က အသင်တို့သည် ထိုယူစွဖ်အား ငါ့ထံသို့ပင့်ဆောင်ခဲ့ကြလေကုန်၊ ငါသည် ၎င်းအား မိမိအဖို့ ရွေးချယ်အံ့ဟု အမိန့်ပေးခဲ့လေသည်။ တစ်ဖန် ယင်းယူစွဖ်သည် ထိုဘုရင်နှင့် စကားပြောဆိုလေသောအခါ၊ ထိုဘုရင်က (ယူစွဖ်အား) အသင်သည် ယနေ့မှစ၍ ကျွန်ုပ်၏ထံတွင် မြင့်မြတ်သောဂုဏ်ဒြပ်နှင့်ပြည့်စုံသူ၊ ယုံကြည်စိတ်ချအပ်သူဖြစ်သည်ဟု ချီးမြှင့်ပြောကြား မြွက်စားခဲ့လေသတည်း။ [၁]

قَالَ اجْعَلْنِي عَلَىٰ خَزَائِنِ الْأَرْضِ ۖ إِنِّي حَفِيظٌ عَلِيمٌ ﴿٥٥﴾

၅၅။ (ထိုရောအခါ) ယင်းယူစွဖ်က အသင်သည် ကျွန်ုပ်အား တိုင်းပြည်၏ ဘဏ္ဍာတော်များအပေါ်၌ (ကြီးကြပ်အုပ်ထိန်းသူအဖြစ်) ခန့်အပ်ပါလေ။ စင်စစ် ကျွန်ုပ်သည် ထိန်းသိမ်းနိုင်သူ၊ အသိပညာနှင့် ပြည့်စုံသူပင်ဖြစ်သည်ဟု ပြောကြားခဲ့လေ၏။ [၂]

---

(၁) အီဂျစ်ဘုရင်သည် တမန်တော်ယူစွဖ်နှင့်ပက်သက်၍ အဆိုပါစကားရပ်များကို ကြားသိရသောအခါ တမန်တော်ယူစွဖ်အား သီးသန့် ဂုဏ်ထူး ဌာနန္တရ ချီးမြှင့်ရန်အလို့ငှာ မိမိထံပင့်ဆောင်ရန် အမိန့်ပေးခဲ့လေသည်။ တမန်တော်ယူစွဖ်သည်လည်း မိမိ၏အရေးဆိုချက် အောင်မြင်သွားပြီ ဖြစ်သည့်အတွက် ဘုရင်မင်းမြတ်၏ ဖိတ်ကြားချက်အရ အကျဉ်းထောင်မှ ဂုဏ်ရှိစွာဖြင့် ဘုရင်မင်းမြတ်ထံသို့ ကြွသွားခဲ့လေသည်။

အီဂျစ်ဘုရင်မင်းမြတ်သည် တမန်တော်ယူစွဖ်အား ယခင်ကပင် ကြည်ညိုပြီးဖြစ်ခဲ့၏။ ယခုတစ်ဖန် မျက်နှာစုံညီ စကားပြောခွင့်၊ ဆွေးနွေးခွင့်ရသောအခါ တမန်တော်ယူစွဖ်၏ အရည်အချင်း စွမ်းရည်သတ္တိများကို ပိုမိုသိရှိလာခဲ့ပေရာ၊ တမန်တော်ယူစွဖ်အား ပိုမို၍ပင် ကြည်ညိုလာခဲ့လေသည်။ ထိုအခါ ဘုရင်မင်းမြတ်က- တမန်တော်ယူစွဖ်အား "အသင်သည် ယနေ့မှစ၍ ကျွန်ုပ်၏ထံတွင် မြင့်မြတ်သော ဂုဏ်အင်ဒြပ်နှင့် ပြည့်စုံသူ အစစအရာရာတွင် ယုံကြည်စိတ် ချရသူဖြစ်ပြီ" ဟု ပြောကြား၍ ချီးမြှင့်တော်မူလိုက်လေသည်။

ထိုနောက် အိပ်မက်ဒိဗ်ခုမ်အကြောင်း ရောက်ရှိလာသောအခါ ဘုရင်မင်းမြတ်က သို့ဖြစ်လျှင် ဤသို့ မိုးလေဝသခေါင်းပါးသည့်အခါတွင် တိုင်းသူပြည်သားတို့၏ စားနပ်ရိက္ခာ ပြဿနာသည် အလွန်ကြီးမားသော တာဝန်ကြီးတစ်ရပ် ဖြစ်လာပေမည်။ ဤမျှကြီးမားသော တာဝန်ကိုမည်သူ့အား တာဝန်ပေးသင့်သနည်းဟု အကြံတောင်းသောအခါ တမန်တော်ယူစွဖ်က ရှေ့လာလတ္တံ့သော အာယတ်တော်တွင်ပါရှိသည့်အတိုင်း မိမိအား တာဝန်ပေးရန် အကြံပေးခဲ့လေသည်။

(၂) အီဂျစ် ဘုရင်မင်းမြတ်က-တမန်တော်မြတ် ဟူစုဖ်ထံယင်းကဲ့သို့ အကြံတောင်းသောအခါ တမန်တော် ယူစွဖ်က "ဘုရင်မင်းမြတ်သည် တိုင်းပြည်ဘဏ္ဍာတော်များအပေါ်တွင် ကြီးကြပ်အုပ်ချုပ်သူအဖြစ် ➤➤

وَكَذٰلِكَ مَكَّنَّا لِيُوسُفَ فِى الْاَرْضِ يَتَبَوَّاُ مِنْهَا حَيْثُ يَشَآءُ نُصِيبُ بِرَحْمَتِنَا مَنْ نَّشَآءُ وَلَا نُضِيعُ اَجْرَ الْمُحْسِنِينَ ﴿٥٦﴾

၅၆။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ဤနည်းအတိုင်းပင် ယူစွဖ်အား တိုင်းပြည်တွင် ထိုယူစွဖ်သည် ယင်းတိုင်းပြည်၌ မိမိနေလိုသောနေရာတွင်နေထိုင်ရန် *အာဏာကို ချီးမြှင့်တော်မူခဲ့လေသည်။* ၁ ငါအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူ၌ မိမိကရုဏာတော်ကို သက်ရောက်စေတော်မူ၏။ ၎င်းပြင် ငါအရှင်မြတ်သည်ကောင်းမှုပြုလုပ်သူတို့၏အကျိုးကို အချည်းအနှီးဖြစ်စေတော်မူသည် မဟုတ်ပေ။

➤➤ ကျွန်ုပ်အား ခန့်ထားတော်မူပါ၊ ကျွန်ုပ်သည် တိုင်းပြည်၏ ဘဏ္ဍာတော်များကို ကောင်းစွာထိန်းသိမ်းစောင့်ရှောက်နိုင်ပါသည်၊ ဘဏ္ဍာတော်အဝင် အထွက်နှင့်စာရင်းအင်းများကိုလည်း ကောင်းစွာကျွမ်းကျင်ပါသည်" ဟု အကြံပေးစကားပြောကြားလေသည်။

တစ်နည်းအားဖြင့်-တမန်တော် ယူစွဖ်သည် ပြည်သူလူအများတို့အား အကျိုးဖြစ်ထွန်းစေရန်နှင့် အထူးသဖြင့် နိုင်ငံတော်အဝန်း၌ ကပ်သင့်သည့် အခါကာလတွင် ပြည်သူတစ်ရပ်လုံး၏ စားနပ်ရိက္ခာပြဿနာကို စနစ်တကျ ပြေလည်အောင် ဖြေရှင်းပေးနိုင်ရန်အတွက် တိုင်းပြည်ဘဏ္ဍာရေးဆိုင်ရာ တာဝန်ကို မိမိကိုယ်တိုင်တောင်းယူခဲ့ခြင်းဖြစ်သည်။ တာဝန်ယူခဲ့သည့်အလျောက်လည်း တမန်တော်ယူစွဖ်သည် မိမိ၏တာဝန်ကို စွမ်းလွန်းတမံဆောင်ရွက်နိုင်ခဲ့ပေသည်။

ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့်....

(က) နဗီတမန်တော်များ၌ လောကီရေးဆိုင်ရာ အသိပညာများ အပြည့်အစုံ ရှိသည်ကို ကောင်းစွာသိရှိရပေသည်။

(ခ) ထို့ပြင်တစ်ဝ ပြည်သူတို့အား သနားကြင်နာသောအားဖြင့် စီးပွားရေးနယ်တွင် ပါဝင်ခြင်းသည် တမန်တော်များ၊ သူတော်စင်များ၏ ဂုဏ်သိက္ခာနှင့် မည်သို့မျှမဆန့်ကျင်သည်ကိုလည်း ကောင်းစွာသိရှိရပေသည်။

(ဂ) ထို့ပြင်တစ်ဝ ပြည်သူတို့၏အကျိုးငှာ ပုဂ္ဂိုလ်တစ်ဦးသည် စိတ်စေတနာ ဖြူစင်စွာဖြင့် သူတစ်ပါးကောင်းစွာမစွမ်းဆောင်နိုင်သည့် တာဝန်တစ်ရပ်ကို မိမိစွမ်းဆောင်နိုင်ပါက ယင်းသို့သော တာဝန်ကို မိမိက တောင်းယူထမ်းဆောင်ခြင်းသည် မပြုပိုင်သော ကိစ္စမဟုတ်၊ ပြုပိုင်သော ကိစ္စတစ်ရပ် ဖြစ်ကြောင်းကိုလည်း ကောင်းစွာသိရှိရပေသည်။

(ဃ) ထို့ပြင်တစ်ဝ အကြောင်းဆုံလာပါက အခြေအနေအရ လူအများ မသိပါက မိမိ၏အရည်အချင်းများကို ထုတ်ဖော်ပြောပြခြင်းသည် မပြုအပ်သည့် ဂုဏ်ဖော်ခြင်းတွင် အကျုံးမဝင်ကြောင်း၊ (ယင်းသို့ ထုတ်ဖော်ပြောပြလိုက်ခြင်းဖြင့် တိုင်းပြည်၌ အကျိုးဖြစ်ထွန်းစေကြောင်းကိုလည်း ကောင်းစွာသိရှိရပေသည်။)

① ဤသို့အားဖြင့် အလ္လာဟ်အရှင်မြတ်သည် တမန်တော်ယူစွဖ်အား တိုင်းပြည်တွင် မိမိအာသာဆန္ဒအရ လွတ်လပ်စွာ သွားလာနေထိုင်ခြယ်လှယ်နိုင်ရန် အာဏာကို ချီးမြှင့်တော်မူလေသည်။ တစ်နည်းအားဖြင့် အီဂျစ်ဘုရင်ရိုင်ယာန်အီဗ်နို့အလ်ဝလီဒ်သည် ဘုရင့်အမည် ခံထား၍ တမန်တော်ယူစွဖ်သည် လက်တွေ့ဘုရင်အဖြစ်နှင့် နိုင်ငံတော်၏ အရေးကိစ္စအဝဝကို စီမံကွပ်ကဲအုပ်ချုပ် မင်းလုပ်လျက် "အဇီဇ်" ဘွဲ့နာမည်ဖြင့် ကျော်ကြားလျက်ရှိခဲ့ပေသည်။ (ဤအကြောင်းနောက်တွင် ပါရှိသည်။)

وَلَاَجۡرُ الۡاٰخِرَةِ خَيۡرٌ لِّلَّذِيۡنَ اٰمَنُوۡا وَكَانُوۡا يَتَّقُوۡنَ ﴿٥٧﴾

၅၇။ သို့ရာတွင် အီမန်သက်ဝင်ယုံကြည်၍ (ပြစ်မှု ဒုစရိုက်များမှ) အမြဲတစေ ကြဉ်ရှောင်လျက် ရှိကြ သောသူတို့အဖို့မှာကား *နောင်တမလွန်ဘဝ၏ အကျိုးသည် အကောင်းဆုံးပင် ဖြစ်ပေသတည်း။* [၁]

وَجَآءَ اِخۡوَةُ يُوۡسُفَ فَدَخَلُوۡا عَلَيۡهِ فَعَرَفَهُمۡ وَهُمۡ لَهٗ مُنۡكِرُوۡنَ ﴿٥٨﴾

၅၈။ ထို့နောက် ယူစွဖ်၏ နောင်တော်တို့လည်း (အီဂျစ်သို့)လာခဲ့ကြပြီး၊ ယင်းယူစွဖ်၏ထံ ဝင်ရောက် ခဲ့ကြလေသည်။ ထိုအခါယင်းယူစွဖ်သည် ၎င်းတို့အား မှတ်မိခဲ့လေသည်။ သို့ရာတွင် ယင်းတို့မူကား ထိုယူစွဖ် အား မမှတ်မိကြပေ။ [၂]

---

(၁) ကောင်းမွန် မြင့်မြတ်သော လမ်းစဉ်ကို လိုက်၍ ကောင်းမှု ပြုလုပ်သောသူတို့အား အလ္လာဟ် အရှင်မြတ်သည် မိမိ၏ ကရုဏာတော်ဖြင့် ဤပစ္စက္ခ ဘဝမှာပင် ဥစ္စာ၊ရွှေ၊ငွေ၊ရတနာ သြဇာအာဏာ စည်းစိမ် ချမ်းသာများကို ပေးသနားတော်မူသည်။ တမန်တော်ယူစွဖ်အား ထိုသည့် လောကီစည်းစိမ်ချမ်းသာများကို ပေးသနားတော်မူခဲ့ လေသည်။ (နောင်တမလွန်ဘဝ၌ တမန်တော်ယူစွဖ်အား အလ္လာဟ်အရှင်မြတ် ချီးမြှင့်တော်မူမည့် သုခ ချမ်းသာများသည် ဤလောကီ စည်းစိမ်များထက် အတိုင်းမရှိ ပိုမိုကောင်းမြတ်ပေသည်။)

ဤပစ္စက္ခဘဝ၌ရရှိသော စည်းစိမ်ချမ်းသာမှုများသည် အဘယ်မျှပင် များပြားလင့်ကစား သခါရမျှသာ ဖြစ်ပေသည်။ နောင်တမလွန်ဘဝတွင် မုအ်မင်န်သူတော်စင်များ စံစားကြရမည့် သုခချမ်းသာများသည် အံ့ချီးမဆုံး ဖြစ်၏။ ထာဝရဖြစ်၏။ လောကီချမ်းသာများထက် အတိုင်းမရှိသာ၏။ နောင်တမလွန်၏ စည်းစိမ်ချမ်းသာမှုများကို လောကီစည်းစိမ်များနှင့် အလျှင်း မနှိုင်းယှဉ်အပ်ပေ။

(၂) **ပထမအကြိမ် နောင်တော်များ အီဂျစ်သို့ ရောက်ရှိလာခဲ့ခြင်း။**

တမန်တော်ယူစွဖ်သည် အီဂျစ်ပြည်တွင် နိုင်ငံချုပ် မင်းဖြစ်လျက်ရှိချေပြီ။ အိပ်မက်အရ ခုနစ်နှစ်တိုင် မိုးလေဝသ အလွန်ကောင်းလှသည့်အတွက် တိုင်းပြည်တွင် ကောက်ပဲသီးနှံများ ပေါများစွာရရှိခဲ့၏။ တမန်တော် ယူစွဖ်သည် ကောက်ပဲသီးနှံများကို စနစ်တကျ စုဆောင်းသိုလှောင်ထားခဲ့၏။ ထို့နောက် ခုနစ်နှစ်တိုင်တိုင် မိုးလေဝသခေါင်းပါး၍ ဒုဗ္ဘိက္ခန္တရကပ်သင့်သောအခါ တမန်တော်ယူစွဖ်သည် ပြည်တွင်းပြည်ပသို့ စားနပ်ရိက္ခာများကို အလယ်အလတ်ဈေး သတ်မှတ်၍ စနစ်တကျ ဖြန့်ဖြူးခဲ့လေသည်။ သို့ ဖြန့်ဖြူးရာတွင် ပြည်ပမှလာသော ပုဂ္ဂိုလ်များအား တစ်ဦးလျှင် ကုလားအုတ် တစ်တင်ထက်ပို၍ မပေးခဲ့ချေ။ ဤသို့အားဖြင့် ပြည်တွင်းပြည်ပ သတ္တဝါအပေါင်းတို့သည် အစာငတ်မွတ်ခြင်းကပ်မှ လွတ်မြောက်သွားခဲ့ကြလေသည်။ ဘုရင်မင်းမြတ်၏ ဘဏ္ဍာတော်များလည်း ပြည့်လျှံလျက်ရှိခဲ့ချေသည်။

ယင်းသို့ ဒုဗ္ဘိက္ခန္တရကပ်ကြီး သင့်နေသည့်အချိန်တွင် အီဂျစ်ပြည်၌ စားနပ်ရိက္ခာများ လွယ်ကူစွာ ရရှိနိုင်သည်ဟူသော သတင်းစကားသည် အတိုင်းတိုင်းအပြည်ပြည်သို့ ပျံ့နှံ့သွားခဲ့လေသည်။ ထိုအခါ အတိုင်းတိုင်း အပြည်ပြည်မှ အီဂျစ်ပြည်သို့လာပြီး စားနပ်ရိက္ခာများဝယ်ကြလေသည်။ ခါနာန်ပြည်မှ နောင်တော်များသည်လည်း စားနပ်ရိက္ခာ ဝယ်ယူနိုင်ရန်အတွက် အီဂျစ်ပြည်သို့ ရောက်ရှိလာခဲ့ကြလေသည်။ 

وَلَمَّا جَهَّزَهُمْ بِجَهَازِهِمْ قَالَ ائْتُونِي بِأَخٍ لَّكُمْ مِّنْ أَبِيكُمْ ۚ أَلَا تَرَوْنَ أَنِّي أُوفِي الْكَيْلَ وَأَنَا خَيْرُ الْمُنزِلِينَ ﴿٥٩﴾

၅၉။ တစ်ဖန် ထိုယူစွဖ်သည် ၎င်းတို့အဖို့ (စားနပ်ရိက္ခာနှင့်စပ်လျဉ်း၍) စီမံအပ်သည့်ကိစ္စများကို ၎င်းတို့အား အဆင်သင့်ဖြစ်အောင် စီမံ၍ပေးခဲ့ပြီးသောအခါ (၎င်းတို့အား ဤသို့)ပြောကြားခဲ့လေသည်။ အသင်တို့သည် မိမိတို့ခမည်းတော်ဘက်မှ တော်စပ်သော အသင်တို့၏ ညီတော်အား ကျွန်ုပ်ထံ ခေါ်ဆောင်ခဲ့ကြလေကုန်။ အသင်တို့သည် မမြင်ကြလေသလော။ ကျွန်ုပ်သည်(စားနပ်ရိက္ခာဖြန့်ဖြူးရာတွင်) ခြင်တွယ်သော ပမာဏကို အပြည့်ခြင်၍ပေးသည့်ပြင် ကျွန်ုပ်သည် အကောင်းဆုံး ဧည့်ခံသူတစ်ဦးလည်း ဖြစ်ပေသတည်း။

---

➢➢ **နောင်တော်များသည် တမန်တော်ယူစွဖ်အား မမှတ်မိခဲ့ခြင်း။**

နောင်တော်များ၏ ကိုယ်လုံးကိုယ်ပေါက် ပုံပန်းသဏ္ဍာန်၊ ဝတ်စားဆင်ယင်မှု၊ အပြောအဆို အမူအရာများတွင် အထူးခြားနားခြင်း မရှိခဲ့ပေ။ နောင်တော်များသည် ညီတော်အား မေ့လျက်ရှိခဲ့ကြသည်။ တမန်တော်ယူစွဖ်မှာမူကား မိမိ၏ဖခင်ကြီးနှင့် နောင်တော်၊ ညီတော်များအား အသို့လျှင်မေ့နိုင်အံ့နည်း။ အမြဲတစေ စုံစမ်းလျက်ပင်ရှိခဲ့ပေမည်။ ထို့ပြင်တဝ နောင်တော်များ အီဂျစ်သို့ ရောက်လာကြသောအခါ သက်ဆိုင်ရာ အကြီးအကဲတို့သည် ၎င်းတို့၏နာမည်၊ အလုပ်အကိုင် နေရပ်များကို မေးမြန်းပြီးဖြစ်ပေသည်။ ဘုရင်များ၊ အကြီးအကဲများနှင့် တွေ့လိုသည့်အခါ တွေ့လိုသူသည် မိမိ၏အမည်၊ အလုပ်အကိုင်၊နေရပ် တွေ့ဆုံလိုသည့် ကိစ္စများကို များသောအားဖြင့် ပြောပြကြရသည်မှာ အထင်အရှားပင် ဖြစ်ပေသည်။

အချို့ တဖ်စီရ်ကျမ်းကြီးများတွင် နောင်တော်များသည် အီဂျစ်ပြည်ရောက်၍ နိုင်ငံချုပ်မင်း တမန်တော်ယူစွဖ်နှင့်တွေ့ကြသောအခါ တမန်တော်ယူစွဖ်အား မိမိတို့၏ အမည်၊ နေရပ်၊ မျိုးနွယ်စဉ်ဆက်များကို ပြောကြားကြသည်ဟူ၍ပါရှိသည်။

နောင်တော်များနှင့် တမန်တော်ယူစွဖ် ကွဲကွာလာခဲ့ကြသည်မှာ တမန်တော်ယူစွဖ်သည် အလွန်ငယ်ပေသေးသည်။ ထို့ပြင်တဝ မိမိတို့ကျွန်အဖြစ်နှင့် ရောင်းစားခဲ့သော ညီတော်ယူစွဖ်သည် ဤကဲ့သို့ တိုင်းပြည်၏ အထွတ်အထိပ်သို့ ရောက်ရှိလိမ့်မည်ဟူ၍ကား နောင်တော်များသည် စိတ်ကူး၌မျှပင် မထည့်ခဲ့ကြ ဘူးပေ။ ထို့ပြင်တစ်ဝ တမန်တော်ယူစွဖ်သည် နိုင်ငံချုပ်မင်းဖြစ်နေပေရာ နိုင်ငံချုပ်မင်း၏ အဆောင်အယောင်နှင့် ထည်ဝါခန့်ညားစွာလည်း ရှိပေမည်။ အကြောင်းအားလျော်စွာ ယခု မျက်နှာချင်းဆိုင် တွေ့မြင်နေကြရသော်လည်း နောင်တော်များသည် သာမန်ဧည့်သည်များ ဖြစ်နေကြပေရာ နိုင်ငံချုပ်မင်း၏ အမည်နာမ မျိုးနွယ်ဆက်များကို အသို့လျှင် မေးမြန်းဝံ့ကြအံ့နည်း၊ ထို့အတွက်ကြောင့်ပင် နောင်တော်များသည် ညီတော် တမန်တော်ယူစွဖ်အား တွေ့မြင်ခဲ့ကြရသော်လည်း ညီတော်ယူစွဖ်ဖြစ်သည်ဟူ၍ကား မမှတ်မိခဲ့ကြပေ။

فَإِنْ لَّمْ تَأْتُونِي بِهِۦ فَلَا كَيْلَ لَكُمْ عِندِي وَلَا تَقْرَبُونِ ﴿٦٠﴾

၆၀။ သို့ဖြစ်ပေရာ အကယ်၍သာ အသင်တို့သည် ထိုညီတော်အား ကျွန်ုပ်ထံသို့ ခေါ်ဆောင်ခြင်းမပြုခဲ့ကြပါလျှင် အသင်တို့အဖို့ ကျွန်ုပ်ထံတွင် ခြင်တွယ်ခြင်း အလျှင်း ရှိလိမ့်မည်မဟုတ်ပေ။ အသင်တို့သည် ကျွန်ုပ်ထံလည်း မချဉ်းကပ်ကြကုန်လင့်။ ၁

قَالُوا سَنُرَاوِدُ عَنْهُ أَبَاهُ وَإِنَّا لَفَاعِلُونَ ﴿٦١﴾

၆၁။ (ထိုအခါ)၎င်းတို့က ဧကန်စင်စစ် ကျွန်ုပ်တို့သည် ထိုညီတော်အား ၎င်း၏ ခမည်းတော်ထံ တောင်းခံကြပါမည်။ ကျွန်ုပ်တို့သည်ဧကန်မလွဲ (ဤအတိုင်းပင်) ပြုလုပ်ကြပါမည်ဟု ပြောဆိုဖြေကြားခဲ့ကြလေသတည်း။ ၂

---

(၁) တမန်တော်ယူစွဖ်သည် နောင်တော်များအား ကောင်းစွာဧည့်ခံပြုစုခဲ့၏။ နောင်တော်အသီးသီးတို့အား ကုလားအုတ်တစ်ကောင်တင် စားနပ်ရိက္ခာများကိုလည်းပေးခဲ့၏။ ဤကဲ့သို့ နိုင်ငံချုပ်မင်းက မိမိတို့အား ကောင်းမွန်စွာဆက်ဆံဧည့်ခံ၍ စားနပ်ရိက္ခာများ အပြည့်အစုံ ပေးနေသည်ကို တွေ့မြင်ကြသောအခါ နောင်တော်များက "ကျွန်တော်များ၌ ဖတူမိကွဲ ညီတော် ဗင်န်ယာမီန် တစ်ယောက်ရှိပါသေးသည်။ စိတ်ဒုက္ခရောက်ရှာနေသော ဖခင်ကြီးသည် မိမိ၏စိတ်ဖျော်ဖြေနိုင်ရန်အတွက် ထိုသားငယ်အား မိမိထံတွင် ချန်ထားလိုက်ခြင်းဖြစ်ပါသည်။ အဘယ်ကြောင့်ဆိုသော် ထိုဗင်န်ယာမီန်၏ မိတူ၊ဖတူ အစ်ကိုတစ်ယောက်ရှိခဲ့ပါသည်။ ယူစွဖ်ဟုခေါ်ပါသည်။ ဖခင်ကြီးသည် ထိုယူစွဖ်အား အသက်တမျှ ချစ်ခဲ့ပါသည်။ ထိုယူစွဖ်သည် တော၌ သေဆုံးသွားခဲ့ပါသည်။ ယခုတိုင် ထိုယူစွဖ်ကို တမ်းတလွမ်းဆွတ်လျက် ရှိပါသည်။ ထို့အတွက် အိမ်တွင် ကျန်ရစ်ခဲ့သော ညီတော် ဗင်န်ယာမီန်၏ ဝေစုကိုပါ ချီးမြှင့်တော်မူပါ" ဟု လျှောက်ထားကြလေသည်။

ထိုအခါ တမန်တော်ယူစွဖ်က–အကွယ်၌ရှိသူအား ဝေစုပေးသည့် ထုံးတမ်းစဉ်လာမရှိ၊ ဤသို့ပေးခြင်းမှာ နည်းလမ်းလည်းမကျပေ။ ထို့အတွက် အသင်တို့ နောက်တစ်ခေါက် လာကြသည့်အခါ ထိုဗင်န်ယာမီန်ကိုပါ ခေါ်လာကြလျှင် ၎င်းအဖို့လည်း ဝေစုဆက်ဆက်ရကြမည်။ ဒွိဟသံသယ မရှိကြကုန်လင့်။ အသင်တို့သည် ကျွန်ုပ်၏ဧည့်ဝတ်ကျေပုံ၊ ဆက်ဆံပုံ၊ အသီးသီးအားစားနပ်ရိက္ခာ အပြည့်အဝပေးပုံများကို ကိုယ်တွေ့မျက်မြင် ဖြစ်ကြပြီး အကယ်၍ အသင်တို့သည် ထိုဗင်န်ယာမီန်အား နောက်တစ်ခေါက် လာကြသည့်အခါ ခေါ်ဆောင်မလာခဲ့ကြပါလျှင် အသင်တို့သည် လူလိမ်များဖြစ်ကြသည်။ လိမ်လည်၍ စားနပ်ရိက္ခာကို ပိုမိုထုတ်ယူလိုသူများ ဖြစ်သည်ဟူ၍ပင် မှတ်ယူရပေမည်။ ထိုသို့ဖြစ်ပါမူ အသင်တို့သည် မိမိတို့၏ဝေစုများကိုလည်း ဆုံးရှုံးကြရမည် ဖြစ်သည့်အပြင် ကျွန်ုပ်၏နိုင်ငံအတွင်းသို့ ဝင်ခွင့်ပင် ရရှိကြမည် မဟုတ်ဟု ပြန်လည်ဖြေကြားတော် မူလိုက်လေသည်။

(၂) ထိုအခါ နောင်တော်များက ညီတော် ဗင်န်ယာမီန်အား ဖခင်ကြီးထံမှ ခွဲခွာ၍ ခေါ်ဆောင်လာရန်ကိစ္စမှာ အလွန်ခဲယဉ်းလှပါသည်။ သို့တစေလည်း ဖခင်ကြီးအား တစ်နည်းတစ်ဖုံဖြင့် ကျေနပ်အောင် ကြိုးစားကြပါမည်။ ဤကိစ္စကို တစ်နည်းနည်း တစ်ဖုံဖုံဖြင့် မချဖြစ်မြောက်စေကြပါမည်ဟု နိုင်ငံချုပ်မင်းအား ကတိပြုခဲ့ကြလေသည်။

وَقَالَ لِفِتْيٰنِهِ اجْعَلُوْا بِضَاعَتَهُمْ فِيْ رِحَالِهِمْ لَعَلَّهُمْ يَعْرِفُوْنَهَآ إِذَا انْقَلَبُوْٓا إِلٰٓى أَهْلِهِمْ لَعَلَّهُمْ يَرْجِعُوْنَ ﴿٦٢﴾

၆၂။ ၎င်းပြင် ထိုယူစွဖ်က မိမိအစေအပါးတို့အား (ဤသို့)ပြောဆို အမိန့်ပေးခဲ့လေသည်။ အသင်တို့သည် ၎င်းတို့ အရင်းအနှီး ပြုလုပ်သော ပစ္စည်းကို ၎င်းတို့၏ ခရီးဆောင်ပစ္စည်းများတွင် (လျှို့ဝှက်စွာ ပြန်၍ထည့်)ထားကြလေကုန်။ သို့မှသာလျှင် ၎င်းတို့သည် ထိုအရင်းအနှီး ပြုလုပ်သော မိမိတို့ပစ္စည်းကို အိမ်သူအိမ်သားတို့ထံ ပြန်လည်ရောက်ရှိသောအခါ မှတ်မိကြကုန်မည်။ သို့မှသာလျှင် ၎င်းတို့သည် ပြန်လာနိုင်ကြရာကုန်မည်သတည်း။ [၁]

فَلَمَّا رَجَعُوْٓا إِلٰٓى أَبِيْهِمْ قَالُوْا يٰٓأَبَانَا مُنِعَ مِنَّا الْكَيْلُ فَأَرْسِلْ مَعَنَآ أَخَانَا نَكْتَلْ وَإِنَّا لَهٗ لَحٰفِظُوْنَ ﴿٦٣﴾

၆၃။ ထို့နောက်၎င်းတို့သည် မိမိတို့၏ ခမည်းတော်ထံသို့ ပြန်လည်ရောက်ရှိခဲ့ကြသောအခါ (ဤသို့) လျှောက်ထားခဲ့ကြကုန်၏။ အို-ကျွန်တော်မျိုးတို့၏ ဖခမည်းတော်၊ ရိက္ခာသည် ကျွန်တော်မျိုးတို့(အား ရောင်းချခြင်း)မှ ပိတ်ထားပြီးဖြစ်လေသည်။ သို့ဖြစ်ပေရာ ခမည်းတော်သည် ကျွန်တော်မျိုးတို့နှင့်အတူ ကျွန်တော်မျိုးတို့၏ ညီတော် (ဗင်န်ယာမီန်)အား စေလွှတ်တော်မူပါ။ ကျွန်တော်မျိုးတို့သည် (ရိက္ခာကို နောက်တစ်ဖန်) ခြင်တွယ်၍ယူခဲ့ကြပါမည်။ ၎င်းပြင် ဧကန်မလွဲ ကျွန်တော်မျိုးတို့သည် ထိုညီတော်အား ကောင်းမွန်စွာ စောင့်ရှောက်ထိန်းသိမ်းမည့်သူများ လည်း ဖြစ်ကြပါသည်။ [၂]

---

(၁) နောင်တော်များသည် နိုင်ငံချုပ်မင်း တမန်တော်ယူစွဖ်ထံမှ စားနပ်ရိက္ခာများ ယူဆောင်၍ ပြန်ကြသောအခါ တမန်တော်ယူစွဖ်က မိမိ၏ လက်အောက်ငယ်သားတို့အား နောင်တော်များ၏ ငွေရင်းများကို ၎င်းတို့၏ ပစ္စည်းများတွင် လျှို့ဝှက်စွာ ပြန်လည် ထည့်ပေးလိုက်ကြရန် အမိန့်ပေးလိုက်လေသည်။ ယင်းကဲ့သို့ ငွေရင်းများကို ပြန်လည်ထည့်ပေးရန် အမိန့်ပေးခဲ့ခြင်းမှာ...

**(က)** နောင်တော်များ မိမိတို့အိမ် ပြန်ရောက်၍ ပစ္စည်းများကို ဖွင့်ကြည့်ကြသောအခါ ငွေရင်းများ ပြန်ထည့်ပေးလိုက်သည်ကို တွေ့မြင်ကြလျှင်၊ အီဂျစ်နိုင်ငံချုပ်မင်းသည် စိတ်စေတနာ အလွန်မြင့်မြတ်ပါတကား ဟုယူဆကာ ၎င်းတို့တွင် အီဂျစ်နိုင်ငံချုပ်မင်းထံသို့ နောက်တစ်ခေါက် သွားလိုသောဆန္ဒ ဖြစ်ပေါ်စေရန်အတွက်လည်း ဖြစ်နိုင်ပေသည်။

➢➢

قَالَ هَلْ اٰمَنُكُمْ عَلَيْهِ اِلَّا كَمَآ اَمِنْتُكُمْ عَلٰٓى اَخِيْهِ مِنْ قَبْلُ ۗ فَاللّٰهُ خَيْرٌ حٰفِظًا ۪ وَّهُوَ اَرْحَمُ الرّٰحِمِيْنَ ﴿٦٤﴾

၆၄။ (ထိုအခါ) ထိုခမည်းတော်သည် (ဤသို့) ပြန်ကြားခဲ့လေ၏။ ငါသည် အသင်တို့အပေါ်ဝယ် ယင်းညီတော်နှင့်ပတ်သက်၍ ယခင်က ၎င်း၏ နောင်တော်(ယူစွဖ်)နှင့်ပတ်သက်၍ ယုံကြည်စိတ်ချခဲ့ဘိသကဲ့သို့ပင် ယုံကြည်ရမည်သာဖြစ်သည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် အကောင်းဆုံးစောင့်ရှောက်တော်မူသောအရှင်၊ ကရုဏာပြုသူတို့တွင် ကရုဏာ အပြုဆုံးသောအရှင်၊ ဖြစ်တော်မူပေသတည်း။ ၁

➤➤ (ခ) ၎င်းပြင် ယင်းကဲ့သို့ ငွေရင်းများကို ထည့်ပေးလိုက်ခြင်းမှာ ငွေရင်းမရှိ၍ နောင်တော်များ နောက်တစ်ခေါက် မလာဖြစ်ကြမည်ကိုစိုး၍ လိုသော်မယ်ရ ထည့်ပေးလိုက်ခြင်းလည်း ဖြစ်နိုင်ပေသည်။

(ဂ) ထို့ပြင်တစ်ဝ ယင်းကဲ့သို့ ငွေရင်းများကို ပြန်လည် ထည့်ပေးလိုက်ခြင်းမှာ တမန်တော်ယူစွဖ်သည် စားနပ်ရိက္ခာအတွက် မိမိ၏ နောင်တော်များထံမှ အခကြေးငွေ ယူခြင်းမှာ သားချင်းချင်း လိုက်နာစောင့်သိအပ်သည့် တာဝန်များကို မသိရာ ရောက်မည်ကို စိုးရိမ်သည့်အတွက်လည်း ဖြစ်နိုင်ပေသည်။

(၂) သားတော်များသည် အီဂျစ်ပြည်မှ စားနပ်ရိက္ခာများ ယူဆောင်၍ ဖခင်ကြီးထံ ပြန်ရောက်ကြသောအခါ ရောက်မဆိုက် သားတော်များသည် "အီဂျစ်နိုင်ငံချုပ်မင်းက မိမိတို့အား လေးစားစွာ ဧည့်ခံခဲ့ပုံ၊ စားနပ်ရိက္ခာများပေးပုံ၊ ပြီးနောက် အီဂျစ်နိုင်ငံချုပ်မင်းက ကျွန်တော်တို့၏အကြောင်းကို မေးမြန်းရာ ကျွန်တော်တို့သည် မည်သူမည်ဝါ၏ သားများဖြစ်ကြောင်း၊ ကျွန်တော်တို့၌ သားချင်းပေါက်ဖော် ၁၂-ယောက်ရှိခဲ့ကြောင်း၊ ညီလေးတစ်ဦးမှာ တောတွင် သေဆုံးသွားခဲ့ကြောင်း၊ ယခု ဖခင်ကြီးထံတွင် ညီလေးတစ်ဦး ကျန်ရှိခဲ့ကြောင်း" စသည်များကိုသာ ပြောပြရာ နိုင်ငံချုပ်မင်းက နောက်တစ်ခေါက် လာကြသည့်အခါ ထိုညီလေးကိုပါ ခေါ်လာကြရမည့်အကြောင်း၊ ခေါ်မလာပါက စားနပ်ရိက္ခာလည်း ရမည်မဟုတ်ကြောင်း၊ အီဂျစ်ပြည်တွင်းသို့ ဝင်ခွင့်ပင်ရရှိမည် မဟုတ်ကြောင်း ပြောကြားပါသည်။ ထို့အတွက် ဖခင်ကြီးသည် ကျွန်တော်များနှင့်အတူ ညီလေး ဗင်န်ယာမီန်အား ဆက်ဆက်ထည့်ပါ၊ ကျွန်တော်များသည် ညီတော်ဗင်န်ယာမီန်အား ကောင်းစွာ ထိန်းသိမ်းစောင့်ရှောက်ကြပါမည်၊ သို့ထည့်မှသာလျှင် ကျွန်တော်များ အီဂျစ်ပြည်သို့ နောက်တစ်ခေါက်သွား၍ စားနပ်ရိက္ခာများကို ယူဆောင်လာနိုင်ကြမည် ဖြစ်ပါသည်ဟု အစီရင်ခံကြလေသည်။

(၁) သားကြီး၏ မေတ္တာရပ်ခံချက်ကို ကြားရသောအခါ ဖခင်ကြီး တမန်တော်ယအ်ကူဗ်(အလိုင်ဟစ္စလာမ်)က အသင်တို့သည် ယူစွဖ်ကို တောသို့ ခေါ်သွားစဉ်ကလည်း 'ကျွန်တော်တို့သည် ယူစွဖ်ကို ကောင်းစွာ စောင့်ရှောက်ကြပါမည်' ဟူ၍ပင် ပြောဆိုခေါ်သွားခဲ့ကြသည်။ ယခု တစ်ဖန် ထိုစကားကိုပင် ပြောဆိုကြပြန်ပြီ၊ အသင်တို့၏ ကတိကို ငါမယုံ၊ စိတ်လည်းမချ။ သို့တစေလည်း စားနပ်ရိက္ခာ မရှိလျှင်မဖြစ်၊ ဗင်န်ယာမီန် မပါကလည်း စားနပ်ရိက္ခာ မရဖြစ်နေသည့်အတွက် အခြေအနေအရ မလွှဲမရှောင်သာ၍သာ ထည့်ရမည်ဖြစ်သည်။ သို့ထည့်လိုက်ရလျှင်လည်း ငါသည် ဗင်န်ယာမီန်ကို အလ္လာဟ်အရှင်မြတ်၏ ထိန်းသိမ်းစောင့်ရှောက်မှုတွင်ပင်ထည့်မည်၊ အဘယ်ကြောင့်ဆိုသော် ထိုအရှင်မြတ်သည်သာလျှင် အကောင်းဆုံး စောင့်ရှောက်တော် မူသောအရှင်၊ ကရုဏာ အထားဆုံးသောအရှင်ဖြစ်တော်မူသည်ဟု ပြန်လည် ဖြေကြားလိုက်လေသည်။

وَلَمَّا فَتَحُوا مَتَاعَهُمْ
وَجَدُوا بِضَاعَتَهُمْ رُدَّتْ
إِلَيْهِمْ قَالُوا يَا أَبَانَا مَا نَبْغِي
هَٰذِهِ بِضَاعَتُنَا رُدَّتْ إِلَيْنَا
وَنَمِيرُ أَهْلَنَا وَنَحْفَظُ أَخَانَا
وَنَزْدَادُ كَيْلَ بَعِيرٍ ذَٰلِكَ
كَيْلٌ يَسِيرٌ ﴿٦٥﴾

၆၅။ ထို့နောက် ၎င်းတို့သည် မိမိတို့၏ ပစ္စည်းကို ဖွင့်ခဲ့ကြသောအခါ မိမိတို့ အရင်းအနှီးပြုသော ပစ္စည်းကို၎င်းတို့အား ပြန်လည်ထည့်ပေးလိုက်သည်ကို တွေ့ရှိခဲ့ကြလေသည်။ (ထိုအခါ) ၎င်းတို့က (ဤသို့) လျှောက်ထားကြပြန်လေသည်။ အို-ကျွန်တော်မျိုးတို့၏ ဖခမည်းတော်၊ ကျွန်တော်မျိုးတို့ မည်သည့်အရာကို အလိုရှိကြပါသေးသနည်း၊ ဤသည် ကျွန်တော်မျိုးတို့ အရင်းအနှီးပြုသောပစ္စည်းပင် ဖြစ်ပါသည်။ ထိုအရင်းအနှီးပြုသောပစ္စည်းသည်လည်း ကျွန်တော်မျိုးတို့အား ပြန်ပေးထားပြီး ဖြစ်ပါသည်။ ၎င်းပြင် ကျွန်တော်မျိုးတို့သည် မိမိတို့ အိမ်သူ အိမ်သားများ အဖို့ (ထပ်မံ၍) စားနပ်ရိက္ခာများ ယူဆောင်လာကြပါမည်။ ထိုမှတစ်ပါး၊ ကျွန်တော်မျိုးတို့သည် မိမိတို့ ညီတော်အားလည်း ထိန်းသိမ်းစောင့်ရှောက်ကြပါမည်။ ထို့ပြင် ကျွန်တော်မျိုးတို့သည် ကုလားအုတ်တစ်စီးစာ (စားနပ်ရိက္ခာ)ကိုလည်း ပိုမို၍ယူဆောင်လာကြပါမည်။ ဤကား လွယ်ကူစွာရရှိမည်ဖြစ်သောရိက္ခာပင် ဖြစ်ပါသည်။ (တစ်နည်း-ယခု ကျွန်တော်မျိုးတို့ ယူဆောင်လာခဲ့ကြသော) ဤ(ရိက္ခာ)သည်ကား အလွန်နည်းလှပါသည်။ ၁

(၁) ယင်းကဲ့သို့ သားအဖချင်း စကားပြောဆိုကြပြီးနောက်၊ သားတော်များသည် အီဂျစ်ပြည်မှ ယူဆောင်လာခဲ့ကြသော ပစ္စည်းများကို ဖွင့်ကြသောအခါ ယင်းပစ္စည်းများတွင် ၎င်းတို့၏ ငွေရင်းများ ပြန်လည်ထည့်ပေးလိုက်သည်ကို တွေ့ရှိကြလေသည်။ ထိုအခါ သားတော်များသည် ဝမ်းသာမဆုံးဖြစ်ကြပြီးလျှင် "ဖခင်ကြီး ကျွန်တော်တို့နောက် မည်သည်များကို အလိုရှိကြသေးနည်း၊ ကျွန်တော်တို့၏ ငွေရင်းများကိုပင် ပြန်လည်ထည့်ပေးလိုက်ပါသည်။ အီဂျစ်နိုင်ငံချုပ်မင်း၏ ကျေးဇူးကြီးမားလှပါဘိ။ သို့ဖြစ်ပေရာ ကျွန်တော်တို့သည် ဤကဲ့သို့ စေတနာ သဒ္ဓါတရားကြီးမားသော နိုင်ငံချုပ်မင်းထံသို့ ဆက်ဆက်သွားသင့်ကြပေသည်။ ထို့အတွက် ညီတော် ဗင်န်ယာမိန်ကို ဆက်ဆက်ထည့်ပါ။ ကျွန်တော်တို့သည် အိမ်သူအိမ်သားများအဖို့ စားနပ်ရိက္ခာကို ထပ်မံယူဆောင်လာခဲ့ကြပါမည်၊ ညီတော်ကိုလည်း ကောင်းစွာစောင့်ရှောက်ကြပါမည်။ ညီတော် ပါလာသည့်အတွက် ညီတော်အတွက် ကုလားအုတ်တစ်ကောင်တင် စားနပ်ရိက္ခာ ထပ်မံရရှိကြပါဦးမည်။ ယခု ကျွန်တော်တို့ ➢➢

قَالَ لَنۡ اُرۡسِلَهٗ مَعَكُمۡ حَتّٰى تُؤۡتُوۡنِ مَوۡثِقًا مِّنَ اللّٰهِ لَتَاۡتُنَّنِىۡ بِهٖۤ اِلَّاۤ اَنۡ يُّحَاطَ بِكُمۡ‌ۚ فَلَمَّاۤ اٰتَوۡهُ مَوۡثِقَهُمۡ قَالَ اللّٰهُ عَلٰى مَا نَقُوۡلُ وَكِيۡلٌ ﴿٦٦﴾

၆၆။ (ထိုအခါ)ထိုဖခမည်းတော်က အသင်တို့သည် ငါ့အား အလ္လာဟ်အရှင်မြတ်ကို တိုင်တည်၍ အသင်တို့ကိုယ်တိုင် (ဘေးရန်များ)ဝန်းဝိုင်းခြင်းကို ခံကြရသည်မှအပ ယင်းညီတော်အား ငါ့ထံသို့ (ပြန်လည်၍ခေါ်)ယူခဲ့ကြမည်ဟူ၍ တစ်စုံတစ်ရာ (ခိုင်မာသော) အာမခံချက်မပေးသမျှကာလပတ်လုံး ငါသည် ယင်းညီတော်အား အသင်တို့နှင့်အတူ အလျှင်းစေလွှတ်မည်မဟုတ်ဟု ပြောကြားခဲ့လေသည်။ ထို့နောက် ၎င်းတို့သည် ထိုဖခမည်းတော်အား မိမိတို့၏အာမခံချက်ကို ပေးခဲ့ကြသောအခါထိုဖခမည်းတော်က အလ္လာဟ်အရှင်မြတ်သည် ငါတို့ပြောဆိုကြကုန်သော အကြောင်းအရာနှင့်စပ်လျဉ်း၍ လွှဲအပ်ခြင်းခံရတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူသည်ဟု ပြောဆိုခဲ့လေ၏။ ၁

---

➤➤ ယူဆောင်လာခဲ့ကြသည့် စားနပ်ရိက္ခာသည် အလွန်နည်းပါးသေးသည်၊ မကြာမီအတွင်း ကုန်သွားပါလိမ့်မည်ဟု ထပ်မံမေတ္တာရပ်ခံကြလေသည်။

① ထိုအခါ ဖခင်ကြီး တမန်တော်ယအ်ကူဗ(အလိုင်ဟစ္စလာမ်)က– "အသင်တို့ အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ သားတော်ဗင်န်ယာမီန်အား ကျွန်ုပ်ထံသို့ မုချပြန်လည် ခေါ်ဆောင်လာကြပါမည်ဟု ခိုင်မာသော ကတိဝန်ခံချက် မပေးသမျှ ကာလပတ်လုံး ကျွန်ုပ်သည် သားတော် ဗင်န်ယာမီန်အား အသင်တို့နှင့်အတူ အလျှင်းထည့်မည် မဟုတ်ပါ၊ သို့သော် အလ္လာဟ်အရှင်မြတ်၏ ပြဋ္ဌာန်းတော်မူချက်အရ တစ်စုံတစ်ရာ အရေးအခင်းပေါ်ပေါက်၍ ထိုအရေးအခင်းတွင် အသင်တို့အားလုံး မိနေကြပြီး ထွက်လွတ်ရာလမ်းဟူ၍ အလျှင်းမရှိဖြစ်ပါက ကျွန်ုပ်တစ်စုံတစ်ရာ အပြစ်ဆိုမည် မဟုတ်ပါဟု ဖြေကြားလိုက်လေသည်။ သားတော်များကလည်း ဖခင်ကြီး မိန့်ကြားသည့်အတိုင်း ဖခင်ကြီးအား ခိုင်မာသော ကတိဝန်ခံချက် ပေးလိုက်ကြလေသည်။ ဤကဲ့သို့ သားတော်များက မိမိတို့၏ ကတိဝန်ခံချက်ကို ပေးကြသောအခါ ဖခင်ကြီးက ကတိဝန်ခံချက်ကို ပိုမိုလေးနက်စေရန်အတွက် "အလ္လာဟ်အရှင်မြတ်သည် ငါတို့ပြောဆိုကြသော စကားရပ်များနှင့် စပ်လျဉ်း၍ ယုံပုံလွှဲအပ်ခြင်းခံရတော်မူသော အရှင်ဖြစ်တော်မူသည်" ဟု ဆိုလိုက်လေသည်။ ဆိုလိုသည်ကား ကျွန်ုပ်တို့ ပြောဆိုကြသော စကားရပ်များကို အလ္လာဟ်အရှင်မြတ်အား လွှဲအပ်ထားပြီးဖြစ်ရာ ကျွန်ုပ်တို့အနက် တစ်ဦးဦး သစ္စာမဲ့က ထိုသစ္စာမဲ့သူသည် သစ္စာမဲ့သည့်အလျောက် ပြစ်ဒဏ်ခံရမည်ဖြစ်သည်။ သို့တည်းမဟုတ် ကျွန်ုပ်တို့သည် ဤ ကတိဝန်ခံချက်များကို မိမိတို့တတ်နိုင်သမျှ၊ ခိုင်မာအောင် ပြုလုပ်နေကြသည်။ သို့တစေလည်း ဤသို့ ပြောဆိုနေကြသော စကားများ၏ အဓိကရည်ရွယ်ချက်မှာမူ အလ္လာဟ်အရှင်မြတ်၏ ထိန်းသိမ်းစောင့်ရှောက်တော်မူခြင်းဖြင့်သာလျှင် ပြည့်ဝနိုင်ပေသည်။ ထိုအရှင်မြတ် အလိုတော်မရှိပါက ကျွန်ုပ်တို့၏ အစီအစဉ်များ၊ အကြံအစည်များသည် အချည်းနှီးသာဖြစ်ပေမည်ဟူ၏။

وَقَالَ يَٰبَنِيَّ لَا تَدۡخُلُواْ مِنۢ بَابٖ وَٰحِدٖ وَٱدۡخُلُواْ مِنۡ أَبۡوَٰبٖ مُّتَفَرِّقَةٖۖ وَمَآ أُغۡنِي عَنكُم مِّنَ ٱللَّهِ مِن شَيۡءٍۖ إِنِ ٱلۡحُكۡمُ إِلَّا لِلَّهِۖ عَلَيۡهِ تَوَكَّلۡتُۖ وَعَلَيۡهِ فَلۡيَتَوَكَّلِ ٱلۡمُتَوَكِّلُونَ ٦٧

၆၇။ ၎င်းပြင် ထိုဖခမည်းတော်က (ဆက်လက်၍ ဤသို့) ပြောဆိုမှာကြားခဲ့ပြန်လေသည်။ အို-ငါ၏ (ချစ်)သားတို့၊ အသင်တို့သည် (အီဂျစ်မြို့တော်သို့ ဝင်သောအခါ) တံခါးပေါက် တစ်ပေါက်တည်းမှ မဝင်ကြကုန်လင့်။ သို့ရာတွင်အသင်တို့သည် *တခြားစီဖြစ်သောတံခါးများမှ ဝင်ကြလေကုန်။* [၁] စင်စစ်သော်ကား ငါ(၏အကြံပေးချက်)သည် အသင်တို့အဖို့ အလ္လာဟ်အရှင်မြတ်(၏ အလိုတော်)နှင့်ယှဉ်ပြိုင်၍ အနည်းငယ်မျှပင် အသုံးကျမည်မဟုတ်ပေ။ အမိန့်အာဏာသည်ကားအလ္လာဟ်အရှင်မြတ်မှတပါး အခြားမည်သူ တစ်ဦးတစ်ယောက်၌မျှ မရှိချေ။ စင်စစ်တမူကား ယုံကြည်အားထား လွှဲအပ်သူတို့သည် ထိုအလ္လာဟ်အရှင်မြတ် အပေါ်၌သာလျှင် ယုံကြည်အားထား လွှဲအပ်ထိုက်ပေသတည်း။

وَلَمَّا دَخَلُواْ مِنۡ حَيۡثُ أَمَرَهُمۡ أَبُوهُم مَّا كَانَ يُغۡنِي عَنۡهُم مِّنَ ٱللَّهِ مِن شَيۡءٍ إِلَّا حَاجَةٗ فِي نَفۡسِ يَعۡقُوبَ قَضَىٰهَاۚ وَإِنَّهُۥ لَذُو عِلۡمٖ لِّمَا

၆၈။ ထို့နောက် ၎င်းတို့သည် (အီဂျစ်မြို့တော်သို့) မိမိတို့အား မိမိတို့၏ဖခမည်းတော်က မှာကြားခဲ့သည့်နည်းအတိုင်း ဝင်ရောက်ခဲ့ကြသောအခါ (ထိုဖခမည်းတော် နဗီတမန်တော်ယအ်ကူဗ်၏) အကြံပေးချက်သည် ယအ်ကူဗ်၏စိတ်ထဲတွင် အလိုဆန္ဒတစ်ခု ရှိခဲ့သည်ကို ထိုယအ်ကူဗ်က ပြီးမြောက်အောင် ရွက်ဆောင်ကြည့်ခဲ့သည်မှအပ အလ္လာဟ်အရှင်မြတ်(၏ အလိုတော်)နှင့် ဆန့်ကျင်၍ လုံးဝအသုံးမဝင်ခဲ့ချေ။

---

(၁) ဒုတိယအကြိမ် နောင်တော်များ အီဂျစ်သို့သွားခြင်း။

တမန်တော်ယအ်ကူဗ်၏ သားတော်များသည် ပထမအကြိမ် အီဂျစ်သို့ ရောက်ရှိသွားခဲ့ခြင်းမှာ သာမန်ခရီးသည်များအဖြစ် ရောက်ရှိသွားခဲ့ခြင်းဖြစ်သည်။ သို့သာမန်ခရီးသည်များအဖြစ် ရောက်ရှိသွားခဲ့သော်လည်း၊ နိုင်ငံချုပ်မင်းတမန်တော် ယူစွဖ်က မိမိ၏ နောင်တော်များအား အထူးတလည်ပျူပျူငှာငှာ ဧည့်ခံခဲ့သည့်အတွက် လူများသည် နောင်တော်များအား စူးစိုက်၍ ကြည့်ခဲ့ကြပေမည်။ ယခုတစ်ဖန်ညီနောင် (၁၁) ဦးတို့သည် အဆောင်အယောင်နှင့် အီဂျစ်ပြည်သို့ သွားကြမည်ဖြစ်၏။ ယခုသွားခြင်းမှာ တစ်နည်းအားဖြင့် ➤➤

عَلَّمْنٰهُ وَلٰكِنَّ اَكْثَرَ النَّاسِ لَا يَعْلَمُوْنَ ﴿٦٨﴾

စင်စစ်မူကား မလွဲဧကန် ထိုယအ်ကူဗ်သည် ငါအရှင်မြတ်က ၎င်းအား ပညာသင်ကြားပို့ချတော်မူခဲ့သောကြောင့် ပညာရှင်တစ်ဦး [၁] အမှန်ပင် ဖြစ်ခဲ့ပေသည်။ သို့ရာတွင် လူသားတို့အနက် အများစုမှာမူ မသိနားမလည်ကြချေ။

---

➤➤ နိုင်ငံချုပ်မင်း၏ ဖိတ်ကြားချက်အရ သွားခြင်းဖြစ်သည်ဟုလည်း ဆိုနိုင်၏။ တမန်တော်ယူစွဖ်နှင့် ကွဲကွာနေရသည့်အချိန်တွင် ဖခင်ကြီး တမန်တော်ယအ်ကူဗ်အထူးချစ်ခင်ယုယသော သားထွေး ဗင်န်ယာမီန်သည်လည်း နောင်တော်များနှင့် အတူ ပါရှိမည်ဖြစ်၏။ နိုင်ငံချုပ်မင်းက ယင်းကဲ့သို့ ဧည့်ခံပြီးသည့်နောက်ပိုင်းတွင် ယခုကဲ့သို့ လူရည်သန့်သော၊ ရုပ်ရည်အဆင်း သဏ္ဌာန်လှသော၊ ထည်ဝါခံ့ညားသော ညီနောင် (၁၁)-ဦးတို့သည် အဆောင်အယောင်ဖြင့် မြို့တွင်းသို့ ဝင်ကြပါက လူများစူးစိုက်၍ ကြည့်ကြမည်ကို ဖခင်ကြီး တာမန်တော် ယအ်ကူဗ်သည် ကြိုတင်တွေးမြင်မိလေသည်။

(၁) မော်လာနာထာနဝီသခင်သည် ဤအာယတ်တော် (၁၂း၆၈)ကို အောက်ပါအတိုင်း ဖွင့်ဆို ရေးသားထားတော်မူသည်။

ထိုသားတော်များသည် ၎င်းတို့၏ဖခင်ကြီးက – ၎င်းတို့အား မှာကြားလိုက်သည့်အတိုင်း (မြို့တွင်းသို့) ဝင်ကြသောအခါ (ဖခင်ကြီး၏ အာသာဆန္ဒသည် ပြည့်ဝသွားခဲ့လေသည်၊ သို့တစေလည်း) ဖခင်ကြီးသည် (ယင်းသို့အကြံပေး၍) ထိုသားတော်များထံမှ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို ဖယ်ရှားလိုခဲ့သည် မဟုတ်ပေ။ (ထို့အတွက်ကြောင့်လည်း တမန်တော် ယအ်ကူဗ်အပေါ်၌ တစ်စုံတစ်ရာ စောဒနာတက်ရန်မရှိ၊ တမန်တော် ယအ်ကူဗ်၏ အကြံဉာဏ်သည် အကျိုးမဖြစ်ထွန်းစေခဲ့သည့်အတွက် တမန်တော်ယအ်ကူဗ်အပေါ်၌ တစ်စုံတစ်ရာ ဒွိဟာသံသယဖြစ်ရန်လည်းမရှိ။

အဘယ်ကြောင့်ဆိုသော် တမန်တော် ယအ်ကူဗ်ကိုယ်တိုင်က – 'ငါသည် အသင်တို့အား အလ္လာဟ် အရှင်မြတ်ထံတော်မှ သက်ရောက်မည့်အရာကို ဖယ်ရှားနိုင်သည်မဟုတ်' ဟု ဆိုခဲ့ပြီး ဖြစ်လေသည်)။ သို့ရာတွင် တမန်တော်ယအ်ကူဗ်၏ စိတ်နှလုံးတွင် (ကြံဖန်မှု၏အဆင့်၌) အာသာဆန္ဒ တစ်ခုဖြစ်ပေါ်ခဲ့၏။ တမန်တော် ယအ်ကူဗ်သည် ထိုသည့်အာသာဆန္ဒကို ထင်ရှားပေါ်လွင်စေခဲ့လေသည်။ ၎င်းပြင် ထိုတမန်တော်ယအ်ကူဗ်သည် ငါအရှင်မြတ်က ၎င်းအား သင်ကြားပြသတော်မူခဲ့သည့် အတွက်ကြောင့် မုချဧကန် ပညာကျော်တစ်ဦးပင် ဖြစ်ခဲ့ပေသည်။

(သို့ဖြစ်ပေရာ တမန်တော်ယအ်ကူဗ်သည် မိမိချီးမြှင့်ခြင်းခံရသော အသိပညာနှင့် ဆန့်ကျင်၍ အကြံအစည်ကို အကျိုးတရား ဖြစ်ထွန်းစေသည့် မူလအဓိက အကြောင်းတရား ဖြစ်သည်ဟူ၍ကား အသို့လျှင် ယူဆနိုင်အံ့နည်း။ တမန်တော်ယအ်ကူဗ်က ယင်းကဲ့သို့ ပြောဆိုခဲ့ခြင်းမှာ တရားတော်အရ ပြုပိုင်ခွင့်ရှိသည့် အကြံအစည်တစ်ရပ်ကို ပြုလုပ်ရန်ပင် ဖြစ်ပေသည်)။ သို့ရာတွင် လူသားတို့အနက် အများစုသည် မသိကြချေ။ (၎င်းတို့သည် အသိပညာမဲ့ကြသည့်အတွက် အကြံအစည်ကိုပင် အကျိုးဖြစ်ထွန်းစေသည့် မူလအဓိက အကြောင်းတရားဖြစ်သည်ဟူ၍ ယူဆကြပေသည်)။ ထာနဝီ၊ စ-၄၀၊ အအ-၅။

وَلَمَّا دَخَلُوا عَلَىٰ يُوسُفَ آوَىٰ إِلَيْهِ أَخَاهُ قَالَ إِنِّي أَنَا أَخُوكَ فَلَا تَبْتَئِسْ بِمَا كَانُوا يَعْمَلُونَ ﴿٦٩﴾

၆၉။ တစ်ဖန် ၎င်းတို့သည် ယူစွဖ်၏ထံ ဝင်ရောက်ခဲ့ကြသောအခါ ထိုယူစွဖ်သည် မိမိညီတော်အား မိမိထံတွင် နေရာထိုင်ခင်းပေးခဲ့လေသည်။ (ထို့နောက်) ယင်းယူစွဖ်က ဧကန်စင်စစ် ငါသည် အသင်၏ နောင်တော် (ယူစွဖ်)ပင် ဖြစ်ပေသည်။ သို့ဖြစ်ပေရာ အသင်သည် ၎င်းတို့ပြုလုပ်ခဲ့ကြသော ကိစ္စရပ်များနှင့်စပ်လျဉ်း၍ စိတ်ဒုက္ခမဖြစ်ပါလေနှင့်ဟု ပြောဆို (နှစ်သိမ့်စေ)ခဲ့လေသတည်း။ [၁]

فَلَمَّا جَهَّزَهُم بِجَهَازِهِمْ جَعَلَ السِّقَايَةَ فِي رَحْلِ أَخِيهِ ثُمَّ أَذَّنَ مُؤَذِّنٌ أَيَّتُهَا الْعِيرُ إِنَّكُمْ لَسَارِقُونَ ﴿٧٠﴾

၇၀။ ထို့နောက် ထိုယူစွဖ်သည် ၎င်းတို့အဖို့ စီမံအပ်သည်တို့ကို အဆင်သင့်ဖြစ်အောင် စီမံ၍ ပေးခဲ့ပြီးသောအခါ ရေဖလားကို မိမိညီတော်၏ခရီးဆောင်ပစ္စည်းထဲတွင် ထည့်လိုက်လေသည်။ ထို့နောက် ကြေညာသူတစ်ဦးက "အို-ခရီးသည်စု၊ ဧကန်မလွဲ အသင်တို့သည် ခိုးသားများပင် ဖြစ်ကြကုန်သည်" ဟု ကြေညာ(မောင်းခတ်)ခဲ့လေသည်။ [၂]

---

(၁) **ဒုတိယအကြိမ် နောင်တော်များ တမန်တော် ယူစွဖ်ထံ ရောက်ရှိလာခဲ့ခြင်း။**

နောင်တော်များသည် နိုင်ငံချုပ်မင်း တမန်တော်ယူစွဖ် မှာကြားလိုက်သည့်အတိုင်း ညီငယ် ဗင်န်ယာမီန်အား ခေါ်ဆောင်ကာ၊ အီဂျစ်ပြည်သို့ သွား၍ နိုင်ငံချုပ်မင်းထံ ဝင်ကြသောအခါ နိုင်ငံချုပ်မင်း တမန်တော်ယူစွဖ်သည် မိမိ၏ မိတူဖတူလေး ဗင်န်ယာမီန်အား အထူးတလည် ခင်မင်ရင်းနှီးစွာ ဆက်ဆံလေ၏။ ဧည့်ခံလေ၏။ နေရာပေးလေ၏။ ထို့ပြင်တစ်ဝ နှစ်ကိုယ်ထီးတည်း ဖြစ်ကြသောအခါ နောင်တော် တမန်တော် ယူစွဖ်က ညီငယ်ဗင်န်ယာမီန်အား "ငါသည် အသင်၏ မိတူဖတူနောင်တော်ရင်း ယူစွဖ်ပင်ဖြစ်သည်။ ဖတူမိကွဲ နောင်တော်ကြီးများသည် မလိုမုန်းတီး၍ ငါ့ကို ဖခင်ကြီးနှင့် ခွဲခဲ့ကြသည်။ ရေတွင်းထဲ၌ ပစ်ထားခဲ့ကြသည်။ ကျွန်အဖြစ်နှင့် ရောင်းစားခဲ့ကြသည်။ ယခုကဲ့သို့ သားနှင့်အဖ၊ ညီနှင့်အစ်ကိုများကိုခွဲပြီး အားလုံးကို စိတ်ဒုက္ခရောက်စေခဲ့ကြသည်။ ယခုတစ်ဖန် ငါ့ထံအသင့်ကို ခေါ်ဆောင်လာရာတွင်လည်း ညီငယ်အား စိတ်ဒုက္ခဖြစ်အောင် ပြုလုပ်ကြသည်။ ညီလေး ... နောင်တော်ကြီးများ၏ ဤအပြုများကြောင့် စိတ်မပျက်နှင့်တော့၊ ယခုဒုက္ခပျောက်၍ သုခရောက်ရန် အချိန်ရောက်ပြီ။ အလ္လာဟ်အရှင်မြတ်သည် ဒုက္ခ၏နောက်တွင် သုခကို ချီးမြှင့်တော်မူပါလိမ့်မည်ဟု ပြောကြား၍ နှစ်သိမ့်စေခဲ့လေသည်။

(၂) နောင်တော်ကြီးများအဖို့ စားနပ်ရိက္ခာများကို အသင့်ပြုလုပ်ပြီးသောအခါ နိုင်ငံချုပ်မင်းသည် ညီငယ် ဗင်န်ယာမီန်၏အိတ်ထဲတွင် ငွေဖလားကို လျှို့ဝှက်စွာ ထည့်ထားလိုက်လေသည်။ စားနပ်ရိက္ခာများကို ယူဆောင်၍ နောင်တော်များ ခရီးထွက်ခွာကြသောအခါ နန်းတွင်း အမှုထမ်းများသည် ဘုရင်မင်းမြတ်၏ ➤➤

قَالُوْا وَاَقْبَلُوْا عَلَيْهِمْ مَّاذَا تَفْقِدُوْنَ ﴿٧١﴾

၇၁။ (ထိုအခါ) ယင်းနောင်တော်များသည် ထိုကြေညာသူနှင့် အပေါင်းတို့ဘက်သို့ မျက်နှာလှည့်ကာ အသင်တို့သည် မည်သည့်အရာ ပျောက်ဆုံးနေပါသနည်းဟု (ပြန်လည်) ပြောဆို မေးမြန်းခဲ့ကြလေသည်။

قَالُوْا نَفْقِدُ صُوَاعَ الْمَلِكِ وَلِمَنْ جَآءَ بِهٖ حِمْلُ بَعِيْرٍ وَّاَنَا بِهٖ زَعِيْمٌ ﴿٧٢﴾

၇၂။ ထိုကြေညာသူတို့က (ဤသို့) ပြောဆိုခဲ့ကြလေ၏။ ကျွန်ုပ်တို့ ဘုရင်မင်းမြတ်၏ ပမာဏခြင်ခွက် (ဖလား)ကိုပျောက်ဆုံးနေပါသည် ဟု ပြောဆိုခဲ့ကြလေသည်။ မည်သူမဆို ထိုခြင်ခွက် ပမာဏကို (ရှာဖွေ)ယူဆောင်ခဲ့ပါလျှင်၊ ၎င်း၏အဖို့ ကုလားအုတ်တစ်စီးစာ (စားနပ်ရိက္ခာ)သည်ရှိအံ့။ ထို့ပြင် ဤသည်နှင့်စပ်လျဉ်း၍ ကျွန်ုပ်သည် အာမခံသူဖြစ်သည်။

---

➤➤ ငွေဖလားကြီးပျောက်ဆုံးနေသည်ကို တွေ့ရှိကြရာ နောင်တော်များအပေါ် ဒွိဟသံသယဖြစ်ကြလေသည်။ ထိုအခါ နန်းတွင်းအမှုထမ်းများအနက် တစ်ဦးတစ်ယောက်က နောင်တော်များ နောက်သို့လိုက်၍၊ အသင်တို့သည် ခိုးသားများဖြစ်ကြသည်ဟု အော်ဟစ်လေသည်။

**မှတ်ချက်။**

နောင်တော်ကြီးများအား နန်းတွင်းအမှုထမ်းတစ်ဦးက "အသင်တို့သည် ခိုးသားများဖြစ်ကြသည်" ဟု ဆိုခြင်းမှာ နိုင်ငံချုပ်မင်း၏ ညွှန်ကြားချက်အရလော၊ သို့မဟုတ် မိမိသဘောအရလော။ အခြေအနေအရ ထိုအမှုထမ်းသည် မိမိသဘောအရ ယင်းသို့ပြောဆိုခြင်းသာ ဖြစ်ပေမည်။ ဤမှုကိစ္စကို နိုင်ငံချုပ်မင်းထံသို့ ယူဆောင်သွားရန်လည်းမလိုပေ၊ ကုရ်အာန်ကျမ်းမြတ်တွင်လည်း တမန်တော်ယူစွဖ်က တစ်စုံတစ်ရာ ညွှန်ကြားသည်ဟူ၍ တစ်စုံတစ်ရာမပါရှိချေ။ အချို့ပညာရှင်များ၏ ယူဆချက်သာလျှင် ဖြစ်သည်။

ဤသည့်အယူအဆချက်ကို လက်ခံပါက တမန်တော်ယူစွဖ်က ယင်းသို့ ပြောကြားစေခြင်းမှာ တောင်ရိယဟ်သဘောဖြင့်သာ ဖြစ်ပေမည်။

အကယ်၍ အခြားပညာရှင်များ၏ ယူဆချက်အရ နန်းတွင်း အမှုထမ်းတစ်ဦးက ယင်းသို့ပြောဆိုခြင်းမှာ နိုင်ငံချုပ်မင်း၏ ညွှန်ကြားချက်မဟုတ်ဟု ယူဆလျှင် ကုန်ရန်အာန်ကျမ်းလာ အာယတ်တော်မှာ ရှင်းလင်းလျက်ရှိပေသည်။ စကားကို လှည့်ရန်ပင်မလိုပေ။ နန်းတွင်းအမှုထမ်းများက မိမိတို့ထင်မြင်ချက်အရ မိမိတို့ သဘောအတိုင်း ယင်းသို့ ပြောဆိုခဲ့ခြင်းသာဖြစ်ပေမည်။ များစွာသော မုဖတ်စ်စစ်ရှ် ပညာရှင်သုခမိန်များသည်လည်း ဤအတိုင်းပင် ယူဆကြပေသည်။ မာဂျိဒီ။ အ-၃။ စ-၅၀၁။ အအ-၁၃၄

قَالُوا تَاللَّهِ لَقَدْ عَلِمْتُم مَّا جِئْنَا لِنُفْسِدَ فِي الْأَرْضِ وَمَا كُنَّا سَارِقِينَ ﴿٧٣﴾

၇၃။ (ထိုအခါ) ၎င်းတို့က (ဤသို့) ပြောဆိုဖြေကြားခဲ့ကြလေသည်။ အလ္လာဟ် အရှင်မြတ်အားတိုင်တည်၍ ပြောအံ့၊ ကျွန်ုပ်တို့သည် တိုင်းပြည်တွင်ဆူပူသောင်းကျန်ရန်အတွက် လာခဲ့ကြသည် မဟုတ်ကြောင်း၊ ထို့ပြင် ကျွန်ုပ်တို့သည် ခိုးသားများလည်းမဟုတ်ကြောင်း၊ အသင်တို့သည် ကောင်းစွာ သိရှိခဲ့ကြပြီး ဖြစ်ကုန်၏။

قَالُوا فَمَا جَزَاؤُهُ إِن كُنتُمْ كَاذِبِينَ ﴿٧٤﴾

၇၄။ ယင်းကြေညာသူတို့ကသို့ဖြစ်လျှင် အကယ်၍ အသင်တို့သည် မုသာဝါဒီများ ဖြစ်ခဲ့ကြသော် ထို (ခိုးသား)၏ ပြစ်ဒဏ်သည် မည်သို့ဖြစ်ပါမည်နည်းဟု ပြောဆို(မေးမြန်း)ခဲ့ကြလေ၏။

قَالُوا جَزَاؤُهُ مَن وُجِدَ فِي رَحْلِهِ فَهُوَ جَزَاؤُهُ ۚ كَذَٰلِكَ نَجْزِي الظَّالِمِينَ ﴿٧٥﴾

၇၅။ ၎င်းတို့က (ဤသို့) ပြောကြားခဲ့ကြလေသည်။ အကြင်သူသည်ထိုသူ၏ ခရီးဆောင်ပစ္စည်းတွင် ယင်းခြင်ခွက် (ရေဖလား)သည် တွေ့ရှိခဲ့သော် ထိုသူသည်ပင် *မိမိ၏အစား ဖြစ်ပေမည်။* ^၁ ကျွန်ုပ်တို့သည်ဤနည်းအတိုင်းပင် ပြစ်မှုကျူးလွန်သူတို့အား အစားပေးလေ့ ရှိကြကုန်၏။

فَبَدَأَ بِأَوْعِيَتِهِمْ قَبْلَ وِعَاءِ أَخِيهِ ثُمَّ اسْتَخْرَجَهَا مِن وِعَاءِ أَخِيهِ ۚ كَذَٰلِكَ كِدْنَا لِيُوسُفَ ۖ مَا

၇၆။ ထို့နောက် ယင်းယူစွဖ်သည် မိမိညီတော်၏ အိတ်(ကိုရှာဖွေခြင်း)မပြုမီအလျှင် ထိုနောင်တော်များ၏ အိတ်များကို စတင်(ရှာဖွေ)ခဲ့လေသည်။ ထို့နောက် ယင်းယူစွဖ်သည်ထိုပမာဏကို မိမိညီတော်၏ အိတ်ထဲမှ ထုတ်ဆောင်ခဲ့လေ၏။ ဤအတိုင်းပင် ငါအရှင်မြတ်သည် ယူစွဖ်၏အကျိုးငှာကြံစည်တော်မူခဲ့လေ၏။

---

(၁) နန်းတွင်းအမှုထမ်းများက – ခိုးရာပါပစ္စည်း တွေ့ရှိက မည်သို့မည်ပုံ အပြစ်ပေးရမည့် အကြောင်း မေးမြန်းကြသောအခါ နောင်တော်များက၊ တမန်တော် အီဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)၏ ရှရီအတ်တွင် လာရှိသည့်အတိုင်း အကြင်သူထံတွင် ခိုးရာပါပစ္စည်း တွေ့ရှိရအံ့။ ထိုသူသည်ပင် ထိုခိုးရာပါ ပစ္စည်း၏အစား မိမိကိုယ်တိုင် ကျွန်ခံရအံ့ဟု ဖြေကြားလိုက်ကြလေသည်။ ➤➤

كَانَ لِيَأْخُذَ أَخَاهُ فِي دِينِ الْمَلِكِ إِلَّآ أَن يَشَآءَ اللَّهُ ۚ نَرْفَعُ دَرَجَٰتٍ مَّن نَّشَآءُ ۗ وَفَوْقَ كُلِّ ذِي عِلْمٍ عَلِيمٌ ﴿٧٦﴾

(အမှန်စင်စစ်မှာမူကား) ထိုယူစွဖ်သည် မိမိ *ညီတော်အား (အီဂျစ်)ဘုရင်၏ စည်းမျဉ်းဥပဒေအရ ခေါ်ယူထားနိုင်သည် မဟုတ်ပေ။* [၁] သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် (ဤအတိုင်းပင်) အလိုရှိတော်မူ၏။ ငါအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား အဆင့်အတန်းများစွာ မြှင့်တင်၍ ပေးတော်မူ၏။ အမှန်သော်ကား ပညာရှင်တိုင်း၏ထက်ဝယ် (၎င်းထက်) အလွန်တတ်မြောက်သော ပညာရှင်တပါးသည် ရှိချေသတည်း။

قَالُوٓا۟ إِن يَسْرِقْ فَقَدْ سَرَقَ أَخٌ لَّهُۥ مِن قَبْلُ ۚ فَأَسَرَّهَا يُوسُفُ فِي نَفْسِهِۦ وَلَمْ يُبْدِهَا لَهُمْ ۚ قَالَ أَنتُمْ شَرٌّ مَّكَانًا ۖ وَاللَّهُ أَعْلَمُ بِمَا

၇၇။ ၎င်းတို့ကအကယ်၍ ဤညီငယ်သည် ခိုးဝှက်သည်ရှိသော် (အံ့ဖွယ်ရာမဟုတ်ပေ။ အကြောင်းမူကား) ယင်း၏ *နောင်တော်(ယူစွဖ်)သည်လည်း ယခင်က ခိုးဝှက်ခြင်းကိုပြုခဲ့ဖူးလေသည်ဟု* [၂] ပြောဆိုခဲ့ကြပေသည်။ သို့ပါလျက် ယူစွဖ်သည် ယင်းပြောဆိုချက်ကို မိမိစိတ်ထဲ၌ပင် မျိုသိပ်၍ထားရှိခဲ့လေသည်။ ၎င်းပြင် ထိုစကားကို ၎င်းတို့ရှေ့တွင် ထုတ်ဖော်(ပြောဆို)ခြင်း မပြုခဲ့ချေ။

---

➢➢ ဤကဲ့သို့ တမန်တော်အီဗ်ရာဟီမ်၏ ရှရီအတ်တွင် လာရှိသည့်အတိုင်း နောင်တော်များက ရဲဝံ့စွာ ဖြေကြားလိုက်ကြခြင်းမှာ- ၎င်းတို့သည် မိမိတို့မှာ ခိုးသားများ မဟုတ်ကြောင်း၊ ၎င်းတို့ထံတွင် ခိုးရာပါပစ္စည်း တွေ့နိုင်စရာအကြောင်းလည်း အလျှင်းမရှိကြောင်းကို ကောင်းစွာ ယုံကြည်ခဲ့ကြသည့် အတွက်ကြောင့်ပင် ဖြစ်ပေသည်။ ဤသို့အားဖြင့် နောင်တော်များသည် မိမိတို့စကားနှင့် မိမိတို့မိနေခဲ့ကြလေသည်။ အွတ်ဆ်မာနီ။

(၁) ခိုးရာပါပစ္စည်းနှင့်အတူ တွေ့ရှိရသူနှင့် ပတ်သက်၍ နောင်တော်ကြီးများ၏ အဖြေကို ကြားသိရသောအခါ နန်းတွင်းအမှုထမ်းများသည် နောင်တော်ကြီးများအား နိုင်ငံချုပ်မင်းထံသို့ ခေါ်ဆောင်သွားပြီး အဖြစ်အပျက်အားလုံးကို လျှောက်ထား အစီရင်ခံကြလေသည်။ နိုင်ငံချုပ်မင်းကလည်း နောင်တော်များ၏ ပစ္စည်းများတွင် ရှာဖွေရန် အမိန့်ပေးလိုက်လေသည်။

နန်းတွင်းအမှုထမ်းများသည် ပစ္စည်းများကို ရှာဖွေရာတွင် ဗင်န်ယာမိန်၏အိတ်ကို မရှာသေးဘဲ နောင်တော်ကြီးများ၏ အိတ်များကို စတင်ရှာဖွေကြလေသည်။ နောင်တော်ကြီးများ၏ အိတ်များတွင် ပျောက်ဆုံးနေသောဖလားမတွေ့ရှိရပေ။ နောက်ဆုံးတွင် ဗင်န်ယာမိန်၏ အိတ်ကို ရှာဖွေရာ အဆိုပါငွေဖလားကို တွေ့ရှိကြလေတော့သည်။ ထိုအခါ နိုင်ငံချုပ်မင်းသည် နောင်တော်ကြီးများ၏စကားအတိုင်း ညီငယ်ဗင်န်ယာမိန်အား သိမ်းပိုက်ထားလိုက်လေသည်။

➢➢

تَصِفُونَ ﴿٧٧﴾

(သို့ရာတွင်) ထိုယူစွဖ်သည် (မိမိစိတ်ထဲတွင်) အသင်တို့သည် အဆင့်အတန်းအားဖြင့် ပို၍ပင် ဆိုးရွားကြကုန်သည်။ စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည် အသင်တို့ပြောဆိုလျက်ရှိသည်ကို အသိဆုံးပင် ဖြစ်တော်မူပေသည်ဟု ပြောဆိုခဲ့ချေ သတည်း။

قَالُوا يَا أَيُّهَا الْعَزِيزُ إِنَّ لَهُ أَبًا شَيْخًا كَبِيرًا فَخُذْ أَحَدَنَا مَكَانَهُ إِنَّا نَرَاكَ مِنَ الْمُحْسِنِينَ ﴿٧٨﴾

**၇၈။** ၎င်းတို့က ပြောဆိုခဲ့ကြပြန်သည်မှာ "အို- အဇီဇ်၊ ဧကန်စင်စစ် ထိုညီငယ်၌ အလွန် အိုမင်း အသက်အရွယ်ကြီးရင့်သော ဖခင်ကြီးတစ်ပါး ရှိပါ သည်။ သို့ဖြစ်ပေရာ အသင်သည် ၎င်း၏အစား ကျွန်ုပ်တို့အနက်မှ တစ်ဦးဦးကို ယူထားပါလေ။ ဧကန် စင်စစ် ကျွန်ုပ်တို့သည် အသင့်အား ကျေးဇူးပြုတတ် သူတစ်ဦး ဖြစ်သည်ဟူ၍ပင် မြင်ကြပေသည်။ ၁

>> နိုင်ငံချုပ်မင်းသည် အီဂျစ်ပြည် တရားဥပဒေအရ ညီငယ်အား ယခုကဲ့သို့ သိမ်းပိုက်မထားနိုင်ခဲ့ပေ။ ယခုမူ နောင်တော်မကြီးများ ကိုယ်တိုင်က ခိုးရာပါပစ္စည်းနှင့်အတူ တွေ့ရှိသောသူအား ကျွန်အဖြစ် သိမ်းပိုက်ထားနိုင်ကြောင်း ပြောကြားကြသည့်အတွက် ညီငယ်အား သိမ်းပိုက်နိုင်ခဲ့ခြင်းဖြစ်ပေသည်။ အမှန်မှာ ဤသည် အလ္လာဟ်အရှင်မြတ်က တမန်တော် ယူစွဖ်အား သနားကြင်နာတော်မူသည့်အတွက် ညီငယ်အား မိမိထံ သိမ်းပိုက်ထားနိုင်ရန် ကြံဖန်ပေးတော်မူခြင်းသာ ဖြစ်ပေသည်။

(၂) တမန်တော်ယူစွဖ်၏ နောင်တော်ကြီးများသည် ညီတော် တမန်တော်ယူစွဖ်အား အဘယ်မျှ မလိုမုန်းတီး ခဲ့ကြသည်မှာ အထင်အရှားပင် ဖြစ်တော်မူ၏။ ယခုတစ်ဖန် ညီငယ်ဗင်န်ယာမီန်နှင့် ပတ်သက်၍ 'အကယ်၍ ဗင်န်ယာမီန်သည် ခိုးဝှက်ခဲ့ပါလျှင် အထူးအဆန်းမဟုတ်၊ အဘယ်ကြောင့် ဆိုသော် ၎င်း၏အစ်ကို (ယူစွဖ်) သည်လည်း ယခင်က ခိုးဝှက်ခဲ့ဖူးပါသည်" ဟူ၍ပင် မတရားစွပ်စွဲ ပြောဆိုလိုက်ကြပြန်လေသည်။ 'အတိတ်က မိုက်စမိုက်ပင်ပျိုး၍ မိုက်ဆိုးခဲ့တာ အခုလည်း မိုက်ဆဲမှန်စွာ နောက်ကိုတိုး၍ ဆပိုးမိုက်ဦးမှာ' ဟူသော ဆိုရိုးစကားသည် ယင်းနောင်တော်များနှင့် အထူးပင် စပ်ဟပ်မိပေသည်။ နောင်တော်များသည် ယခင်ကလည်း အကြိမ်ကြိမ် မိုက်ဆိုးခဲ့ကြပြီး ယခုတစ်ဖန် ထပ်မံမိုက်ဆိုးကြပြန်ပြီ။

(၁) နောင်တော်ကြီးများသည် ညီငယ်ဗင်န်ယာမီန်အား နိုင်ငံချုပ်မင်းထံမှ လွတ်မြောက်စေရန် နည်းလမ်း မမြင်ကြတော့ပေ။ ထို့ပြင်တစ်ဝ ညီငယ်ဗင်န်ယာမီန်အား ဖခင်ကြီးထံမှ ခေါ်လာစဉ်ကလည်း ဖခင်ကြီးထံတွင် ညီငယ်အား 'ဖခင်ကြီးထံသို့ မုချ ပြန်လည်ပို့ပါမည့် အကြောင်း အခိုင်အမာ ကတိဝန်ခံချက် ပေးခဲ့ကြသည်ကိုလည်း နောင်တော်ကြီးများ အမှတ်ရလာကြလေသည်။ ထိုအခါ နောင်တော်များက နိုင်ငံချုပ်မင်းထံတွင် 'အို- အဇီဇ်၊ နိုင်ငံချုပ်မင်း၊ ဖခင်ကြီးမှာ အသက်အရွယ် အလွန်ကြီးရင့်ပါပြီ၊ ဖခင်ကြီးသည် ဤညီငယ်နှင့် >>

قَالَ مَعَاذَ اللّٰهِ اَنْ نَّاْخُذَ اِلَّا مَنْ وَّجَدْنَا مَتَاعَنَا عِنْدَهٗۤ اِنَّاۤ اِذًا لَّظٰلِمُوْنَ ۝٧٩

၇၉။ (ထိုရောအခါ) ယင်းယူစွဖ်က (ဤသို့) ပြောဆိုဖြေကြားခဲ့၏။ ငါတို့သည် မိမိတို့ပစ္စည်းကို တွေ့ရှိသောသူမှတစ်ပါး အခြားသူအား ဖမ်းဆီးခြင်းကို မပြုမိကြရန် အလ္လာဟ် အရှင်မြတ်၏ ကာကွယ်စောင့်ရှောက်မှုကို ရှာဖွေကြပေသည်။ ဧကန်စင်စစ် ငါတို့သည် (ထို)သို့ (ပြုခဲ့ကြ)ပါလျှင် အမှန်ပင် မတရားသောသူများ ဖြစ်ကြမည်သာတည်း။

فَلَمَّا اسْتَيْــَٔسُوْا مِنْهُ خَلَصُوْا نَجِيًّا ؕ قَالَ كَبِيْرُهُمْ اَلَمْ تَعْلَمُوْۤا اَنَّ اَبَاكُمْ قَدْ اَخَذَ عَلَيْكُمْ مَّوْثِقًا مِّنَ اللّٰهِ وَمِنْ قَبْلُ مَا فَرَّطْتُّمْ فِيْ يُوْسُفَ ۚ فَلَنْ اَبْرَحَ الْاَرْضَ حَتّٰى يَاْذَنَ لِيْۤ اَبِيْۤ اَوْ يَحْكُمَ اللّٰهُ لِيْ ۚ وَهُوَ خَيْرُ الْحٰكِمِيْنَ ۝٨٠

၈၀။ သို့ဖြစ်ပေရာ ထိုနောင်တော်များသည် ယင်းယူစွဖ်ထံမှ မျှော်လင့်ချက် ကင်းမဲ့ခဲ့ကြသောအခါဝယ် (၎င်း၏ထံမှ) ဆုတ်ခွာခဲ့ကြကာ လျှို့ဝှက်တိုင်ပင်ကြပြန်သည်။ (ထိုအခါ)၎င်းတို့အနက်မှ အကြီးဆုံးဖြစ်သူက (ဤသို့)ပြောဆိုခဲ့လေ၏။ (အို-ငါ့ညီတော်များ) အသင်တို့သည် အသင်တို့ဖခင်က အသင်တို့ထံမှ (ယင်းညီတော်နှင့် ပတ်သက်၍)အလ္လာဟ် အရှင်မြတ်အား တိုင်တည်စေပြီး (အခိုင်အမာ) ကတိ ဝန်ခံချက် ယူခဲ့သည်ကိုလည်းကောင်း၊ အသင်တို့သည် ယခင်က ယူစွဖ်နှင့်ပတ်သက်၍ (ကတိ)ပျက်ကွက် လစ်ဟင်းခဲ့ကြသည်ကိုလည်းကောင်း၊ မသိခဲ့ကြပါသလော။ သို့ဖြစ်ပေရာ ငါ၏ဖခင်သည် ငါ့အား ခွင့်မပြုသမျှသော်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်သည် ငါ၏အဖို့ စီရင်ဆုံးဖြတ်တော်မူခြင်း မပြုတော်မူသမျှသော်လည်းကောင်း၊ ငါသည် ဤ(အီဂျစ်)တိုင်းပြည်မှ အလျှင်း စွန့်ခွာမည်မဟုတ်ပေ။

➤➤ ၎င်း၏အစ်ကိုယူစွဖ်ကို ကျွန်တော်များထက် ပို၍ချစ်ပါသည်၊ ယူစွဖ်နောက်တွင် ဖခင်ကြီးသည် ဤညီငယ်နှင့်ပင် စိတ်ဖြောပြေ၍ နေပါသည်။ ကျွန်တော်များ အပြန်တွင် ဤညီငယ်မပါပါက ဖခင်ကြီးသည် စိတ်ထိခိုက်သွားပါလိမ့်မည်။ နိုင်ငံချုပ်မင်းသည် အလွန်တရာမျှ စိတ်နေသဘောထား ကောင်းမွန်မြင့်မြတ်ပါသည်၊ သနားကြင်နာထောက်ထား ညှာတာပါသည်၊ ကျေးဇူးရှင်လည်း ဖြစ်တော်မူပါသည်။ သို့ပါ၍ ညီငယ်အား ဖခင်ကြီးထံ ပြန်ခွင့်ပြုတော်မူပါ၊ ဤညီငယ်အစား ကျွန်တော်များအနက် တစ်ယောက်ယောက်ကို ယူထားတော်မူပါဟု လျှောက်ထားအသနားခံကြလေသည်။

စင်စစ်သော်ကား ထို အလ္လာဟ်အရှင်မြတ်သည် အကောင်းဆုံး စီရင် ဆုံးဖြတ်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသည်တကား။ ၁

ارْجِعُوٓا اِلٰٓى اَبِيۡكُمۡ فَقُوۡلُوۡا يٰۤاَبَانَاۤ اِنَّ ابۡنَكَ سَرَقَ ۚ وَمَا شَهِدۡنَاۤ اِلَّا بِمَا عَلِمۡنَا وَمَا كُنَّا لِلۡغَيۡبِ حٰفِظِيۡنَ ﴿٨١﴾

၈၁။ အသင်တို့သည် မိမိတို့၏ ဖခင်ထံသို့ ပြန်၍ သွားကြပြီးလျှင် (ဤသို့) ပြောဆိုလျှောက်ထားကြလေကုန်၊ အို-မွေးသဖခင်၊ မလွဲဧကန် အသင်ဖခင်၏ သားတော်သည် ခိုးဝှက်ခဲ့ပါသည်။ ၎င်းပြင် ကျွန်တော်မျိုးတို့သည် မိမိတို့(မျက်မြင် ကိုယ်တွေ့) သိရှိခဲ့ကြသည်မှတစ်ပါး အခြား တစ်စုံတစ်ရာကို သက်သေခံကြသည်မဟုတ်ပါ။ စင်စစ်မှာမူကား ကျွန်တော်မျိုးတို့သည် အကွယ်၌ရှိသော ကိစ္စများကို သိရှိကြသည် မဟုတ်ပါ။

وَسۡـَٔلِ الۡقَرۡيَةَ الَّتِىۡ كُنَّا فِيۡهَا وَالۡعِيۡرَ الَّتِىۡۤ اَقۡبَلۡنَا فِيۡهَا ؕ وَاِنَّا لَصٰدِقُوۡنَ ﴿٨٢﴾

၈၂။ ၎င်းပြင် အသင် (ဖခင်)သည် ကျွန်တော်တို့ နေထိုင်ခဲ့ကြသော (အီဂျစ်) မြို့သူမြို့သားများကိုလည်းကောင်း၊ ကျွန်တော်မျိုးတို့နှင့် အတူလာခဲ့ကြသော ခရီးသည်စုကိုလည်းကောင်း၊ စုံစမ်းမေးမြန်း၍ ကြည့်ပါ။ ဧကန်မလွဲ ကျွန်တော်တို့သည် သစ္စာဝါဒီများပင် ဖြစ်ကြပါသတည်း။

(၁) နောင်တော်ကြီးများသည် နိုင်ငံချုပ်မင်း၏ အဖြေကိုကြားပြီး ဗင်န်ယာမီန်နှင့် ပတ်သက်၍ မျှော်လင့်ချက် လုံးဝကင်းသွားကြသောအခါ အချင်းချင်းလွတ်လပ်သော တစ်နေရာတွင် တိုင်ပင်ဆွေးနွေးကြလေသည်။

ဆွေးနွေးရာတွင် အများစု၏ဆန္ဒမှာ မိမိတို့တိုင်းပြည်သို့ ပြန်ကြရန်ပင်ဖြစ်သည်။ သို့ရာတွင် ၎င်းတို့အနက် အသက်အရွယ်အားဖြင့်သော်လည်းကောင်း၊ အသိဉာဏ် အမြော်အမြင်အားဖြင့်သော်လည်းကောင်း၊ အကြီးဆုံးဖြစ်သူက - ငါတို့သည် ဖခင်ကြီးထံ အဘယ်မျက်နှာနှင့် သွားကြမည်နည်း၊ ငါတို့သည် ဖခင်ကြီးအား အခိုင်အမာ ကတိပေးထားခဲ့ကြသည်။ ထိုကတိနှင့် စပ်လျဉ်း၍ အသို့အဖြေပေးကြမည်နည်း၊ ယခင်ကလည်း ယူစွဖ်နှင့် ပတ်သက်၍ ကတိပျက်ခဲ့ကြပြီး၊ ယူစွဖ်၏အရေးသည် ယခုထက်ထိ မအေးသေး။ ယခုတစ်ဖန် ဗင်န်ယာမီန်ကို စွန့်ထားခဲ့ပြီး တိုင်းပြည်ပြန်ခြင်းမှာ အလွန်ရှက်ဖွယ်ကောင်းလှသည်။ ဖခင်ကြီးက လာရန် ခွင့်မပြုသမျှ၊ သို့မဟုတ် အလ္လာဟ်အရှင်မြတ်က တစ်စုံတစ်ရာ အဆုံးအဖြတ်ပေးတော်မမူသမျှ၊ ဤတိုင်းပြည်မှ လုံးဝ ငါခွာမည်မဟုတ်ဟု ပြောဆိုလိုက်လေသည်။

قَالَ بَلۡ سَوَّلَتۡ لَكُمۡ أَنفُسُكُمۡ أَمۡرًاۖ فَصَبۡرٌ جَمِيلٌۖ عَسَى ٱللَّهُ أَن يَأۡتِيَنِي بِهِمۡ جَمِيعًاۚ إِنَّهُۥ هُوَ ٱلۡعَلِيمُ ٱلۡحَكِيمُ ﴿٨٣﴾

၈၃။ ထို(အခါ) ဖခင်က ထိုသို့အလျှင်းမဟုတ်၊ အမှန်စင်စစ်မှာမူကား အသင်တို့၏ စိတ်နှလုံးသည် အသင်တို့အဖို့ အမှုကိစ္စတစ်ခုကို ကြံစည်ဖန်တီးခဲ့ခြင်းသာဖြစ်ပေသည်။ သို့ဖြစ်ပေရာ သည်းခံခြင်းသာလျှင် *အကောင်းဆုံးပင်ဖြစ်ပေသည်။* [၁] အလ္လာဟ် အရှင်မြတ်သည်၎င်းတို့အားလုံးတို့အား ငါ့ထံသို့ ပြန်လည်ရောက်စေတော်မူလိမ့်မည်ဟု မျှော်လင့်ရာ၏။ ဧကန်မလွဲ ထိုအရှင်မြတ်သည် အကြွင်းမဲ့ သိတော်မူသောအရှင်၊ ဉာဏ်အမြော်အမြင်နှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

وَتَوَلَّىٰ عَنۡهُمۡ وَقَالَ يَٰٓأَسَفَىٰ عَلَىٰ يُوسُفَ وَٱبۡيَضَّتۡ عَيۡنَاهُ مِنَ ٱلۡحُزۡنِ فَهُوَ كَظِيمٌ ﴿٨٤﴾

၈၄။ ထို့နောက်၊ထိုခမည်းတော်သည် ၎င်းတို့ဘက်မှ မျက်နှာလွှဲခဲ့ပြီးလျှင် *ဩော်-ယူစွဖ်၊ ဖြစ်မှဖြစ်ရလေခြင်းဟု* [၂] ပြောဆို (ညည်းညူ)ခဲ့လေသည်။ ၎င်းပြင် ယင်း၏မျက်စိနှစ်လုံးတို့မှာလည်း ဝမ်းနည်းပူဆွေးမှုကြောင့် ဖြူ၍သွားခဲ့လေသည်။ သို့တစေလည်း ယင်းသည် (မိမိ) မျိုသိပ်လျက် ရှိနေခဲ့ရရှာလေသတည်း။

(၁) ဖခင်ကြီး တမန်တော်ယအ်ကူဗ်သည် ဗင်န်ယာမီန်နှင့် ပတ်သက်၍ သားကြီးများ၏ အစီရင်ခံချက်ကို ကြားရသောအခါ၊ ယခင်တစ်ကြိမ်က သားတော် ယူစွဖ်နှင့်ပတ်သက်၍ ၎င်းတို့၏ စကားကို မယုံကြည်ခဲ့သကဲ့သို့၊ ယခုတစ်ဖန် သားတော် ဗင်န်ယာမီန်နှင့်ပတ်သက်၍ ၎င်းတို့၏ စကားကိုလည်း မယုံကြည်ခဲ့ပေ။ ယူစွဖ်ကိုလည်း ဝံပုလွေမစား၊ ဗင်န်ယာမီန်လည်း မခိုး၊ ဤသည် အသင်တို့၏ စိတ်နှလုံးများ၏ဖန်တီးမှုသာဖြစ်သည်။ သို့ဖြစ်ပေရာ သည်းခံခြင်းသာလျှင် အကောင်းဖြစ်သည်ဟု ဖြေကြား၍ သည်းခံနေခဲ့လေသည်။ သားတော် ယူစွဖ်၏ ပြဿနာပေါ်စဉ်ကလည်း ဤအတိုင်းပင် ဖြေကြားပြီး သည်းခံ၍ပင် နေခဲ့လေသည်။

ကြည့်-ကုရ်အာန် (၁၂း၁၈)

(၂) ဖခင်ကြီးတမန်တော် ယအ်ကူဗ်သည် သားတော် ဗင်န်ယာမီန်နှင့် ယခုကဲ့သို့ ကွဲရပြန်သောအခါ ယခင်က ကွဲကွာနေခဲ့ရသော သားတော်ယူစွဖ်အား ပြန်လည် သတိရလာခဲ့၏။ သားတော် ယူစွဖ်၏ အချစ်ဒဏ်သည် ပြန်လည်ပေါ်လာခဲ့၏။ ဒဏ်သစ်ကြောင့် ဒဏ်ဟောင်းသည် ပြန်ပေါ်၏။ ဒုက္ခသစ်ကြောင့် ဒုက္ခဟောင်းသည် ပြန်ပေါ်၏။ ထို့အတွက်ကြောင့်လည်း တမန်တော်ယအ်ကူဗ်သည် ဗင်န်ယာမီန်နှင့် ကွဲရပြန်သောအခါ သားတော် ယူစွဖ်အား တွေ့မြင်ပြီး ဝမ်းနည်းကြေကွဲကာ ဩော်-ယူစွဖ် ဖြစ်ရလေခြင်း' ဟု မြည်တမ်းလိုက်ခြင်းဖြစ်ပေသည်။ ဤကား လူ့သဘာဝပင်။

>>

قَالُوْا تَاللّٰهِ تَفْتَؤُا تَذْكُرُ يُوْسُفَ حَتّٰى تَكُوْنَ حَرَضًا اَوْ تَكُوْنَ مِنَ الْهٰلِكِيْنَ ﴿٨٥﴾

၈၅။ ယင်း(သား)တို့က(အို-ခမည်းတော်)အလ္လာဟ်အရှင်မြတ်၏ကစမ်၊ အသင်ခမည်းတော်သည် ယူစွဖ်အား အမြဲမပြတ် တမ်းတသတိရလျက်ပင် ရှိနေသည် ဖြစ်ရာ နောက်ဆုံးတွင်မူ အသင်ဖခင်သည် ကျန်းမာရေး ချွတ်ယွင်းသူသော်လည်းကောင်း၊ အသက်ဇီဝိန်ချုပ်ငြိမ်းသူသော်လည်းကောင်း၊ ဖြစ်ရပါတော့မည်ဟုပြောဆိုကြကုန်၏။ [၁]

قَالَ اِنَّمَآ اَشْكُوْا بَثِّيْ وَحُزْنِيْٓ اِلَى اللّٰهِ وَاَعْلَمُ مِنَ اللّٰهِ مَا لَا تَعْلَمُوْنَ ﴿٨٦﴾

၈၆။ (ထိုအခါ) ယင်းခမည်းတော်သည် (ဤသို့) ပြောဆိုဖြေကြားခဲ့လေ၏။ ငါသည် အလ္လာဟ်အရှင်မြတ်၏အထံတော်၌သာလျှင် မိမိ စိတ်သောကဖြစ်မှုကိုလည်းကောင်း၊ မိမိပူဆွေးမှုကိုလည်းကောင်း၊ လျှောက်ထားခြင်း ဖြစ်ပေသည်။ စင်စစ်မှာမူကား ငါသည် အလ္လာဟ်အရှင်မြတ်ထံတော်မှ အသင်တို့ မသိကြသောအရာကို သိရှိရပေသတည်း။ [၂]

---

➤➤ နဗီတမန်တော်များသည် လူသားများပင် ဖြစ်ကြပေသည်။ လူ့သဘာဝအလျောက် လူသားတို့ စံစားရသည့် သုခများ၊ ခံစားရသည့် ဒုက္ခများကို တမန်တော်များလည်း ခံစ်ကြရပေသည်။ လူ့သဘာဝအလျောက် အခြား လူသားများကဲ့သို့ပင် ဝမ်းသာဝမ်းနည်း ဖြစ်ကြပေသည်။ လူ့သဘာဝအလျောက် ဤသို့ဝမ်းသာဝမ်းနည်း ဖြစ်ခြင်းမှာ နဗီ၏ဂုဏ်သိက္ခာနှင့် မည်သို့မျှ မဆန့်ကျင်ပေ။

(၁) ဖခင်ကြီးတမန်တော် ယအ်ကူဗ်သည် သားတော်ယူစွဖ်အတွက် ဤမျှ ပရိဒေဝမီးတောက် လောင်နေသည်ကို တွေ့မြင်ကြသောအခါ သားကြီးများသည် မခံချိ မခံသာ စိတ်မလိုအားမရဖြစ်ကာ ဖခင်ကြီးအား ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း ပြောဆိုကြလေသည်။ ဤသည်လည်း လူ့သဘာဝပင်ဖြစ်ချေသည်။ မာဂျိဒီ။

(၂) သားကြီးများက ယင်းကဲ့သို့ မြည်တွန်တောက်တီး ပြောဆိုကြသည့်အခါ ဖခင်ကြီးတမန်တော် ယအ်ကူဗ်က - သားများ၊ ငါသည် အလ္လာဟ်အရှင်မြတ်ထံတော်၌သာ မိမိ၏ သောကဖြစ်မှု၊ ဝမ်းနည်းကြေကွဲမှုများကို လျှောက်ထားခြင်းဖြစ်သည်။ မိမိ၏ သောကဖြစ်မှု၊ ဝမ်းနည်းကြေကွဲမှုများကို ထိုအရှင်မြတ်မှတပါး အခြား မည်သူ့ထံ၌မျှ တိုင်ကြားသည်မဟုတ်၊ အသင်တို့ကိုလည်း တိုင်ကြားနေသည်မဟုတ်။

ထို့ပြင်တစ်ဝ ငါသိသော အရာကို အသင်တို့သိကြသည်လည်း မဟုတ်၊ ယူစွဖ်မသေ၊ ငါတို့ သားအဖချင်း မုချပြန်လည်တွေ့ကြရမည်၊ ယူစွဖ်၏ အိပ်မက်သည် မုချ အကောင်အထည်ပေါ်ရမည်။ ဤသည်တို့သည် စမ်းသပ်မှုသာဖြစ်သည်။ တစ်ချိန်တွင် ပြီးဆုံးသွားမည်သာဖြစ်သည်ဟု ဖြေကြားလိုက်လေသည်။

يٰبَنِيَّ اذْهَبُوْا فَتَحَسَّسُوْا مِنْ يُّوْسُفَ وَاَخِيْهِ وَلَا تَايْـَٔسُوْا مِنْ رَّوْحِ اللّٰهِ ۭ اِنَّهٗ لَا يَايْـَٔسُ مِنْ رَّوْحِ اللّٰهِ اِلَّا الْقَوْمُ الْكٰفِرُوْنَ ۸۷

၈၇။ အို-ငါ၏ချစ်သားတို့၊ အသင်တို့သည် ယူစွဖ်အားလည်းကောင်း၊ ယင်းယူစွဖ်၏ညီငယ်အားလည်းကောင်း၊ သွား၍ရှာဖွေ စုံစမ်းကြလေကုန်၊ ထိုမှတပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ မျှော်လင့်ချက် မကင်းကြကုန်လင့်၊ ဧကန်မလွဲ *ကာဖိရ် သွေဖည်ငြင်းပယ်သူတို့သည်သာလျှင် အလ္လာဟ် အရှင်မြတ်၏ကရုဏာတော်မှ မျှော်လင့်ချက်ကင်းကြ ပေသတည်း။*[၁]

فَلَمَّا دَخَلُوْا عَلَيْهِ قَالُوْا يٰٓاَيُّهَا الْعَزِيْزُ مَسَّنَا وَاَهْلَنَا الضُّرُّ وَجِئْنَا بِبِضَاعَةٍ مُّزْجٰىةٍ فَاَوْفِ لَنَا الْكَيْلَ

၈၈။ တစ်ဖန် ၎င်းတို့သည် ထိုယူစွဖ်ထံသို့ ဝင်ရောက်ခဲ့ကြသောအခါ (ဤသို့)ပြောဆိုလျှောက်ထားခဲ့ကြကုန်၏။ အို-အဇီဇ်၊ ကျွန်ုပ်တို့၌လည်းကောင်း၊ ကျွန်ုပ်တို့၏ အိမ်သူအိမ်သားတို့၌လည်းကောင်း၊ (ငတ်မွတ်ခြင်း) ဘေးဒုက္ခသည် ဆိုက်ရောက်နေပါသည်။

(၁) အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ မျှော်လင့်ချက်ကင်းခြင်းသည် မွတ်စ်လင်မ်၏ အပြုအမူမဟုတ်၊ အလ္လာဟ် အရှင်မြတ်၏ အနန္တကရုဏာတော်များနှင့် အနန္တတန်ခိုးတော်များကို ကောင်းစွာမသိသော ကာဖိရ်များ၏ အပြုအမူသာဖြစ်သည်။ မွတ်စ်လင်မ်တစ်ဦးသည် မျှော်လင့်ချက်လုံးဝမရှိသည့် အခြေအနေများ၌ပင်လျှင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ မျှော်လင့်ချက် ကင်းသည်ဟူ၍ အလျှင်းမရှိပေ။ စွမ်းအားရှိသမျှ ကြံစည်ကျိုးပမ်းသည်သာဖြစ်သည်။ မည်သည့်အခါ မည်သည့်အခြေအနေ မည်သည့်ပတ်ဝန်းကျင်၌မျှ အားမလျှော့ပေ။ ထို့အတွက်ကြောင့်လည်း တမန်တော် ယအ်ကူဗ်က ဤမျှအခြေအနေ ဆိုးရွား၍ မျှော်လင့်ချက် မရှိသည့်အခြေအနေတွင်ပင် သားကြီးများအား အသင်တို့သည် ယူစွဖ်ကိုရှာဖွေကြ၊ ဗင်န်ယာမီန်အား လွတ်မြောက်အောင် ကြံစည်အားထုတ်ကြ၊ အလ္လာဟ်အရှင်မြတ်သည် ငါတို့အားလုံးကို ပြန်လည် ဆုံစည်းပေးတော်မူပါလိမ့်မည်ဟု မိန့်ကြားခြင်းဖြစ်သည်။

တမန်တော်ယအ်ကူဗ်၏ ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် အမှန်တရားသည် ခေတ္တခဏ အမြင်အားဖြင့် အဘက်ဘက်မှ အနှိမ်ခံနေရစေကာမူ၊ အမှားသည် အဘယ်မျှတိုးတက်၍ နေစေကာမူ၊ သူတော်စင်များသည် အဘယ်မျှထိ နှိပ်စက်ချုပ်ချယ်ခြင်းကို ခံနေကြရစေကာမူ၊ သူယုတ်မာများသည် တိုင်းပြည်တွင် အဘယ်မျှ ကြီးကျယ်ခြယ်လှယ်နေကြစေကာမူ မွတ်စ်လင်မ်တစ်ဦးသည် ဤသည့်အခြင်းအရာများကို တွေ့မြင်နေရလင့်ကစား မျှော်လင့်ချက်မကင်းပေ။ တစ်နေ့သော် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို မုချခိုလှုံရမည်၊ အမှန်တရားသည် တစ်နေ့သော် မုချအောင်နိုင်ရမည်ကို ကောင်းစွာသဘောပေါက်နိုင်ပေသည်။ တမန်တော်အပေါင်းတို့၏ အတ္တုပ္ပတ္တိများကို လေ့လာကြည့်ပါက ဤသည့်သဘောကို ထင်ရှားစွာ တွေ့ရှိရပေမည်။

وَتَصَدَّقْ عَلَيْنَا ۖ إِنَّ اللَّهَ يَجْزِي الْمُتَصَدِّقِينَ ﴿٨٨﴾

ငင်းပြင် ကျွန်ုပ်တို့သည် အနည်းငယ်မျှသော အရင်းအနှီးပစ္စည်းကိုသာ ယူဆောင်လာခဲ့ကြပါသည်။ သို့ပါ၍ အသင်အဇီဇ်သည် ကျွန်ုပ်တို့အား (စားနပ်ရိက္ခာကို) အပြည့်ခြင်၍ပေးပါ၊ ငင်းပြင် ကျွန်ုပ်တို့ အပေါ်၌ မေတ္တာလည်းထားပါ။ ဧကန်မလွဲ အလ္လာဟ် အရှင်မြတ်သည် မေတ္တာတရား ထားရှိသူတို့အား အကျိုး ကျေးဇူးကို ချီးမြှင့်တော်မူပါ၏။ ၁

---

**(၁) နောင်တော်များသည် တတိယအကြိမ် နိုင်ငံချုပ်မင်းထံသို့ ရောက်ရှိလာခဲ့ပြန်ခြင်း။**

ဖခင်ကြီးတမန်တော် ယအ်ကူဗ်၏ စေခိုင်းချက်အရ သားတော်ကြီးများသည် ညီတော်ယူစွဖ်နှင့် ဗင်န်ယာမီန်တို့ကို ရှာဖွေရန်အတွက် အီဂျစ်ပြည်သို့ပင် ရောက်ရှိလာခဲ့ကြပြန်သည်။ နောင်တော်ကြီးများသည် ညီတော်ယူစွဖ်၏ လိပ်စာနေရပ်ကို မသိကြချေ၊ အဘယ်ဒေသသို့ ရောက်ရှိ၍ မည်သည့်အခြေအနေတွင် ရှိနေသည်ကိုလည်း မသိကြချေ၊ ဗင်န်ယာမီန်ရောက်ရှိနေသည့် နေရပ်ကိုမူ သိကြပေသည်။ ထို့အတွက် နေရပ်လိပ်စာ သိပြီးဖြစ်သော ဗင်န်ယာမီန်အား ပထမလွတ်မြောက်အောင် ကြိုးစားရမည်ဖြစ်၏။ ထို့ပြင်တစ်ဝ စားနပ်ရိက္ခာ ဝယ်ယူရန်အတွက် အီဂျစ်နိုင်ငံချုပ်မင်းထံသို့ ဝင်ရမည်လည်းဖြစ်၏။ ဤသို့အားဖြင့် တစ်ချက်ခုတ် နှစ်ချက်ပြတ်ဆိုသကဲ့သို့ နောင်တော်များသည် နိုင်ငံချုပ်မင်းထံသို့ဝင်ရောက်၍ စားနပ်ရိက္ခာအတွက်လည်း မေတ္တာရပ်ခံကြမည်၊ ထို့ပြင်တစ်ဝ စကားလက်ဆုံ၍ အခြေအနေလုလျှင် ညီငယ်ဗင်န်ယာမီန်အား လွှတ်ပေးပါရန် လည်း မေတ္တာရပ်ခံကြမည်ဟူသော ရည်ရွယ်ချက်ဖြင့် နိုင်ငံချုပ်မင်းထံသို့ ရောက်ရှိလာခဲ့ကြလေသည်။

**နိုင်ငံချုပ်မင်းထံ နောင်တော်များ အသနားခံခြင်း။**

နောင်တော်ကြီးများသည် နိုင်ငံချုပ်မင်းထံသို့ ရောက်ရှိလာပြီး ဦးစွာပထမ အောက်ပါအတိုင်း မိမိတို့၏ အဖြစ်အပျက် တွေ့ကြုံ ခံစားနေရကြရသည့်ဒုက္ခ၊ စီးပွားရေး ကျပ်တည်းမှုများကို တင်ပြကာ စားနပ်ရိက္ခာများကို လှူဒါန်းတော်မူပါရန် အောက်ပါအတိုင်း ကျိုးငဲ့စွာ လျှောက်ထားကြလေသည်။

အို – အဇီဇ်၊ နိုင်ငံချုပ်မင်း၊ ကျွန်တော်များနှင့်တကွ ကျွန်တော်များ၏ အိမ်သူအိမ်သားများအပေါ်၌ အစာခေါင်းပါးမှုကပ်ကြောင့် အကြီးအကျယ် ဒုက္ခဆိုက်ရောက်နေပါသည်။ ငွေကြေး အခက်အခဲများကြောင့် အိမ်တွင်းပစ္စည်းများလည်း ထုခွဲရောင်းချစားသုံးရသည့်အတွက် ကုန်ပါပြီ၊ ယခု စားနပ်ရိက္ခာဝယ်ရန် လာခဲ့ကြ သော်လည်း အလွန်သေးနုပ်သိမ်ဖျင်းလှသည့် အနည်းငယ်မျှသော အရင်းအနှီးကိုသာ ယူဆောင်၍ လာနိုင်ခဲ့ကြ ပါသည်။ ထို့အတွက် နိုင်ငံချုပ်မင်းသည် ကျွန်တော်များ ယူဆောင်လာခဲ့ကြသည့် အရင်းအနှီးကို အမိက ထားတော်မမူဘဲ ယခင်ကဲ့သို့ပင် စေတနာ သဒ္ဓါတရားရှေ့ထား၍ ကျွန်တော်များအား စားနပ်ရိက္ခာကို အပြည့်အစုံ ချီးမြှင့်တော်မူပါ။ ဤကဲ့သို့ စေတနာ သဒ္ဓါတရားဖြင့် ထောက်ထားညှာတာစွာ ပေးကမ်းခြင်းသည်လည်း တစ်နည်းအားဖြင့် လှူဒါန်းပေးကမ်းခြင်းမည်ပါသည်။ ထို့ပြင်တစ်ဝ နိုင်ငံချုပ်မင်းသည် ကျွန်တော်များအား အလှူဒါနပေးကမ်းသည့် သဘောဖြင့်လည်း ပေးကမ်းတော်မူပါ။ အလ္လာဟ်အရှင်မြတ်သည် လှူဒါန်း ပေးကမ်းသူများအား ကုသိုလ်အကျိုး ပေးတော်မူပါသည်။ နိုင်ငံချုပ်မင်း တမန်တော်ယူစွဖ်သည် ဤကဲ့သို့ နောင်တော်များ ဒုက္ခဆင်းရဲကြီးစွာဖြင့်ပြီး မိမိထံတွင် အောက်ကျို့ကာ အသနားခံနေကြသည်ကို ➤➤

قَالَ هَلْ عَلِمْتُم مَّا فَعَلْتُم بِيُوسُفَ وَأَخِيهِ إِذْ أَنتُمْ جَاهِلُونَ ﴿٨٩﴾

**၈၉။** ထို(ရောအခါဝယ်) ယူစွဖ်က (၎င်းတို့အား ဤသို့) ပြောဆို မေးမြန်းခဲ့လေသည်။ အသင်တို့သည် မိမိတို့မသိမိုက်မဲသူများ ဖြစ်ခဲ့ကြစဉ်အခါက မိမိတို့သည် ယူစွဖ်နှင့်လည်းကောင်း၊ ယင်းယူစွဖ်၏ ညီငယ်အားလည်းကောင်း၊ မည်သည့်အပြုအမူကို ပြုမူခဲ့ကြသည်ကို အသင်မှတ်မိကြသေးသလော။

قَالُوٓا۟ أَءِنَّكَ لَأَنتَ يُوسُفُ ۖ قَالَ أَنَا۠ يُوسُفُ وَهَـٰذَآ أَخِى ۖ قَدْ مَنَّ ٱللَّهُ عَلَيْنَآ ۖ إِنَّهُۥ مَن يَتَّقِ وَيَصْبِرْ فَإِنَّ ٱللَّهَ لَا يُضِيعُ أَجْرَ ٱلْمُحْسِنِينَ ﴿٩٠﴾

**၉၀။** (ထိုအခါ) ၎င်းတို့က 'ဧကန်စင်စစ် အသင်သည်ပင် ယူစွဖ်ဖြစ်ပါသလော' ဟု ပြောဆိုခဲ့ကြလေသည်။

(ထိုအခါ) ထိုယူစွဖ်က 'ကျွန်ုပ် ယူစွဖ်ပင်ဖြစ်သည်။ ဤသည် ကျွန်ုပ်၏ညီတော်ပင်ဖြစ်သည်။ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့အပေါ်ဝယ် ကျေးဇူးပြုတော်မူခဲ့လေသည်။

စင်စစ်ဧကန် မည်သူမဆို ပြစ်မှုဒုစရိုက်များမှ ကြဉ်ရှောင်အံ့၊ ၎င်းပြင် ခန္တီတရားထားရှိအံ့။ သို့ဖြစ်လျှင်အကယ်စင်စစ်အလ္လာဟ်အရှင်မြတ်သည် ကောင်းမြတ်သော သီလကို ဆောက်တည်သူတို့၏ အကျိုးကျေးဇူးကို အချည်းနှီး ဖြစ်စေတော်မူမည်မဟုတ် ဟုပြောကြားခဲ့လေသည်။

➤➤ တွေ့မြင်ရသောအခါ သနားစိတ်၊ ကြင်နာစိတ်များ တဖွားဖွား ပေါ်ပေါက်လာပြီး၊ မိမိစိတ်ကို မချုပ်တည်းနိုင်တော့ဘဲ ငိုကြွေးလေတော့သည်။ မျက်စိအစုံမှ မျက်ရည်များလည်း မဆယ်နိုင်တော့ဘဲ ယိုစီးကျလာလေတော့သည်။ ထိုအခါ တမန်တော်ယူစွဖ်သည် ယခင်က နောင်တော်များနှင့် တွေ့စဉ် မိမိကိုယ်ကို မည်သူမည်ဝါ ဖြစ်ကြောင်း ထုတ်ဖော်မပြောခဲ့သော်လည်း ယခုမူ ညီနောင်အချင်းချင်း ပြန်လည်တွေ့ဆုံ၍ ဖက်လှဲတကင်းပြုရန် အချိန်တန်ပြီ ဖြစ်သည့်အတွက် အလ္လာဟ်အရှင်မြတ်၏ ခွင့်ပြုချက်အရ (ရှေ့လာလတ္တံ့သော အာယတ်တော်များတွင်ပါသည့်အတိုင်း) မိမိသည် ယူစွဖ်ဖြစ်ကြောင်း ကြေကွဲဖွယ်ရာ ထုတ်ဖော် ပြောပြလေတော့သည်။

قَالُوْا تَاللّٰهِ لَقَدْ اٰثَرَكَ اللّٰهُ عَلَيْنَا وَاِنْ كُنَّا لَخٰطِـِٕيْنَ ﴿٩١﴾

၉၁။ ၎င်းတို့က အလ္လာဟ်အရှင်မြတ်၏ ကစမ်၊ မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် အသင့်အား ကျွန်ုပ်တို့ထက်မြင့်မြတ်စေတော်မူခဲ့လေသည်။ ၎င်းပြင် အမှန်စင်စစ် ကျွန်ုပ်တို့သည်သာလျှင် မှားယွင်းသူများ ဖြစ်ကြပေသည်ဟု(ဝန်ခံ)ပြောဆိုကြလေသတည်း။[၁]

قَالَ لَا تَثْرِيْبَ عَلَيْكُمُ الْيَوْمَ يَغْفِرُ اللّٰهُ لَكُمْ وَهُوَ اَرْحَمُ الرّٰحِمِيْنَ ﴿٩٢﴾

၉၂။ ထို(အခါ) ယူစွဖ်က ယနေ့ အသင်တို့အပေါ်၌ လုံးဝ ပြစ်တင်ခြင်းမရှိချေ။ *အလ္လာဟ်အရှင်မြတ်သည်အသင်တို့အား အပြစ်မှ ချမ်းသာပေးသနားတော်မူပါစေ။*[၂] စင်စစ်မှာမူကား ထိုအရှင်မြတ်သည် သနားကြင်နာသူ အပေါင်းတို့ထက် သာလွန်၍ သနားကြင်နာတော်မူဆုံးသောအရှင်မြတ်ပင် ဖြစ်တော်မူပေသည် ဟု ပြောဆိုခဲ့လေသတည်း။

---

(၁) ထိုအခါ နောင်တော်များက အလ္လာဟ်အရှင်မြတ်အား တိုင်တည်ရာ ထိုအရှင်မြတ်သည် အသင့်အား ကျွန်ုပ်တို့အပေါ်၌ အဘက်ဘက်တွင် အသာပေးထားတော်မူပါသည်၊ အသင်လည်း ယင်းသို့ အသာပေးတော်မူရန်ပင် ထိုက်တန်လှပါသည်။ကျွန်ုပ်တို့သည် အသင်၏ တန်ဖိုးကို မသိခဲ့ကြပါ၊ ဤသည် ကျွန်ုပ်တို့၏ မှားယွင်းချက်ပင်ဖြစ်ပါသည်။ နောက်ဆုံးတွင် အသင်၏ အိပ်မက်သည် အမှန်ဖြစ်ချေပြီ၊ ကျွန်ုပ်တို့၏ မလိုမုန်းတီးမှုသည် အချည်းအနှီးဖြစ်ချေပြီဟု ဝန်ခံပြောဆိုကြလေသည်။

(၂) **<u>တမန်တော် ယူစွဖ်က နောင်တော်ကြီးများအား ခွင့်လွှတ်သည်သာမက ၎င်းတို့အတွက် အလ္လာဟ်အရှင်မြတ်ထံတော်၌ လွတ်ငြိမ်းချမ်းသာခွင့်ကိုပင် ပန်ကြားပေးခဲ့ခြင်း။</u>**

နောင်တော်ကြီးများက မိမိတို့၏ အမှားများကို ယင်းကဲ့သို့ ဝန်ခံပြောဆိုကြသည့်အခါ နိုင်ငံချုပ်မင်း တမန်တော်ယူစွဖ်သည် မိမိရှေ့မှောက်တွင် နောင်တော်များ ယခုကဲ့သို့ မိမိတို့၏ အမှားများ ဝန်ခံပြောဆို နေကြသည်ကိုပင် မကြားရက်သည့်အတွက် 'နောင်တော်များ ဤစကားရပ်များကို ဆက်လက်ပြောဆို မနေကြပါနှင့်၊ အသင်တို့အား ကျွန်ုပ် တစ်စုံတစ်ရာ အရေးယူမည် မဟုတ်ပါ၊ ကျွန်ုပ်သည် အသင်တို့အား လုံးဝ ခွင့်လွှတ်လိုက်ပါပြီ။ ကျွန်ုပ်ပြောဆိုခဲ့သည့် စကားမှာလည်း အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကို ထုတ်ဖော် ပြောဆိုရန် တာဝန်ရှိသည့်အတွက် လည်းကောင်း၊ ခန္တီတရားနှင့် တက္ကဝါ၏အကျိုးတရားများသည် အဘယ်မျှ ကြီးမားသည်ကို ထင်ရှားစေလိုသည့်အတွက်လည်းကောင်း၊ ရိုးသားသော စေတနာဖြင့် ထုတ်ဖော်ပြောဆိုခဲ့ခြင်းသာ ဖြစ်ပါသည်။ ယနေ့မှ နောင်တွင် နောင်တော်ကြီးများ၏ ချို့တဲ့မှုများကို မေ့၍ပင်ပြောမည် မဟုတ်ပါ၊ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူပါစေ' ဟု ဆုမွန်တောင်းကာ ပြန်လည် ဖြေကြားလိုက်လေသည်။

اِذْهَبُوْا بِقَمِيْصِيْ هٰذَا فَاَلْقُوْهُ عَلٰى وَجْهِ اَبِيْ يَاْتِ بَصِيْرًا ۚ وَاْتُوْنِيْ بِاَهْلِكُمْ اَجْمَعِيْنَ ﴿٩٣﴾

၉၃။ အသင်တို့သည် အကျွန်ုပ်၏ ဤအင်္ကျီကို ယူသွားကြလေကုန်။ ထို့နောက် အသင်တို့သည် ယင်းအင်္ကျီကို အကျွန်ုပ်၏ဖခမည်းတော်၏ မျက်နှာပေါ်သို့တင်ကြလေကုန်။ ထိုဖခမည်းတော်သည် စက္ခုအလင်း ရရှိလာအံ့။ ၎င်းပြင် အသင်တို့သည် မိမိတို့၏အိမ်သူအိမ်သားများအားလုံးကို(လည်း) အကျွန်ုပ်၏ထံသို့ (ခေါ်)ဆောင်၍ လာခဲ့ကြလေကုန်။ ၁

وَلَمَّا فَصَلَتِ الْعِيْرُ قَالَ اَبُوْهُمْ اِنِّيْ لَاَجِدُ رِيْحَ يُوْسُفَ لَوْلَآ اَنْ تُفَنِّدُوْنِ ﴿٩٤﴾

၉၄။ တစ်ဖန် ခရီးသည်တစ်စုသည် (အီဂျစ်ပြည်မှ) ထွက်ခွာခဲ့လေသောအခါ ၎င်းတို့၏ ခမည်းတော်က အကယ်၍ အသင်တို့သည် ငါ့အား သူငယ်ပြန်သည် မယူဆကြပါလျှင် ဧကန်စင်စစ် *ငါသည် ယူစွဖ် ၏အနံ့ကို ရနေပေသည်ဟု* ၂ ပြောဆိုခဲ့လေ၏။

---

(၁) နိုင်ငံချုပ်မင်း တမန်တော်ယူစွဖ်က – နောင်တော်ကြီးများအား ယင်းကဲ့သို့ ခွင့်လွှတ်ပြီးနောက် ကျွန်ုပ်သည် ဖခင်ကြီးထံသို့ မိမိကိုယ်တိုင်သွား ရောက်တွေ့ဆုံလိုသော်လည်း လက်ရှိအခြေအနေတွင် အီဂျစ်ပြည်မှ မရွေ့နိုင်သေးပါ။ နောင်တော်ကြီးများသည် ဖခင်ကြီးထံ ပြန်ချေ၊ အကျိုးအကြောင်းပြောပြပြီး ဖခင်ကြီးနှင့်တကွ အိမ်သူအိမ်သား ဆွေမျိုးသားချင်းအားလုံးတို့အား ကျွန်ုပ်ထံ ခေါ်ဆောင်၍လာကြကုန်။ ထို့ပြင်တစ်ဝ အသင်တို့သည် ကျွန်ုပ်၏အင်္ကျီကို ယူသွားပြီး ဖခင်ကြီး၏မျက်နှာပေါ်၌ တင်ထားကြကုန်၊ သို့တင်ထားလိုက်ကြလျှင် ဖခင်ကြီးသည် စက္ခုအလင်း ပြန်လည် ရရှိလာပေလိမ့်မည်' ဟု မှာကြားလိုက်လေသည်။

(၂) တမန်တော် ယူစွဖ်(အလိုင်ဟစ္စလာမ်)သည် နှစ်ပရိစ္ဆေဒ အမြောက်အမြားကပင် အီဂျစ်ပြည်သို့ ရောက်ရှိနေခဲ့၏။ ထိုအတောအတွင်း တမန်တော် ယအ်ကူဗ်(အလိုင်ဟစ္စလာမ်)သည် တစ်ကြိမ်တစ်ခါမျှ ယူစွဖ်၏ အနံ့ရသည်ဟူ၍ မပြောကြားခဲ့ဘူးပေ။ ဤသို့ဖြစ်ရခြင်း အကြောင်းမှာ အလ္လာဟ်အရှင်မြတ်သည် သားအဖနှစ်ဦးအား အပြည့်အစုံ စမ်းသပ်တော်မူလို၍ ယင်းကဲ့သို့ ခွဲခွာထားတော်မူခဲ့ခြင်းဖြစ်သည်။ ယခုမူ ထိုအရှင်မြတ်၏ စမ်းသပ်မှုသည် ပြီးဆုံးခဲ့ပြီးဖြစ်သည်။ သားအဖနှစ်ဦးတို့သည်လည်း ပြန်လည်တွေ့ဆုံရန် အချိန်တန်ပြီ။ ထို့အတွက် တမန်တော် ယူစွဖ်၏အင်္ကျီကို ယူဆောင်ပြီးသားတော်များသည် အီဂျစ်ပြည်မှ စတင်ခရီးထွက်ခွာကြသည့်အခါ၌ပင် ဖခင်ကြီး တမန်တော် ယအ်ကူဗ်က 'ငါသည် ယူစွဖ်၏ အနံ့ရသည်' ဟု ပြောဆိုလေတော့သည်။

တမန်တော်ယူစွဖ်၏ အတ္ထုပ္ပတ္တိတွင် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များကို အမြောက်အများ အံ့ဖွယ်သရဲ တွေ့ရှိရပေသည်။ တမန်တော် ယအ်ကူဗ်ကဲ့သို့သော တမန်တော်တစ်ပါးသည် ဆီရိယနိုင်ငံ၌ နေထိုင်လျက်ရှိခဲ့၏။ တမန်တော်ယူစွဖ်ကဲ့သို့သော တမန်တော် တစ်ပါးသည် အီဂျစ်ပြည်တွင် မင်းလုပ်လျက် ရှိနေခဲ့၏။ သားတော်များသည် အီဂျစ်ပြည်သို့ အကြိမ်ကြိမ် ရောက်ရှိခဲ့ကြ၏။ တမန်တော် ယူစွဖ်ထံ၌ပင် တည်းခိုခဲ့ကြ၏။ သို့တစေလည်း အလ္လာဟ်အရှင်မြတ်သည် သားအဖနှစ်ဦးတို့အား အပြည့်အစုံ ➢➢

قَالُوْا تَاللّٰهِ اِنَّكَ لَفِيْ ضَلٰلِكَ الْقَدِيْمِ ﴿٩٥﴾

၉၅။ ၎င်းတို့က အလ္လာဟ်အရှင်မြတ်၏ ကစမ်၊ ဧကန်မလွဲ အသင်သည် မိမိ ရှေးဟောင်းလွဲမှားမှု၌ပင် ရှိနေပေသေးသည်ဟု ပြောဆိုကြကုန်၏။ ၁

فَلَمَّاۤ اَنْ جَآءَ الْبَشِيْرُ اَلْقٰىهُ عَلٰى وَجْهِهٖ فَارْتَدَّ بَصِيْرًا ۚ قَالَ اَلَمْ اَقُلْ لَّكُمْ ۚ اِنِّيْۤ اَعْلَمُ مِنَ اللّٰهِ مَا لَا تَعْلَمُوْنَ ﴿٩٦﴾

၉၆။ တစ်ဖန် ဝမ်းမြောက်ဖွယ် သတင်းကို ယူဆောင်၍လာသောသူသည် (ခမည်းတော်ထံသို့) ရောက်ရှိလာသောအခါ၊ ၎င်းသည် ယင်းအင်္ကျီကို ထိုခမည်းတော်၏ မျက်နှာပေါ်သို့ တင်ခဲ့လေသည်၊ သို့ဖြစ်ပေရာ ယင်းခမည်းတော်သည် ပြန်၍ စက္ခုအလင်း ရရှိလာခဲ့လေသည်၊ ထို(အခါ) ယင်းခမည်းတော်က (ဤသို့)ပြောဆိုခဲ့လေသည်၊ ငါသည် အသင်တို့အား အလ္လာဟ်အရှင်မြတ်ထံတော်မှ အသင်တို့ မသိနားမလည်သော ပညာကို ဧကန်စင်စစ် သိနားလည်သည်ဟု ပြောဆိုခဲ့သည် မဟုတ်ပါလော။

قَالُوْا يٰۤاَبَانَا اسْتَغْفِرْ لَنَا ذُنُوْبَنَاۤ اِنَّا كُنَّا خٰطِـِٕيْنَ ﴿٩٧﴾

၉၇။ (ထိုအခါ ယင်းသားတော်များက) အို-ကျွန်တော်မျိုး၏ဖခမည်းတော်၊ ဖခမည်းတော်သည် ကျွန်တော်မျိုးတို့အဖို့ ကျွန်တော်မျိုးတို့၏ ပြစ်မှုတို့မှ လွတ်ငြိမ်းချမ်းသာခွင့်ရရှိစေအံ့သောငှာ အသနားခံ၍ ပေးတော်မူပါ၊ ဧကန်မလွဲ ကျွန်တော်မျိုးတို့သည် ပင်လျှင် အပြစ်မကင်းသူများ ဖြစ်ကြပါသည်ဟု ပြောဆို လျှောက်ထားခဲ့ကြကုန်သတည်း။

---

➤➤ စမ်းသပ်တော်မူလိုသည့်အတွက် သားအဖနှစ်ဦးတို့ ယင်းကဲ့သို့ နှစ်ပရိစ္ဆေဒ အမြောက်အများ ကွဲကွာ၍ နေခဲ့ကြရလေသည်။ နီးလျက်နှင့် ဝေးခဲ့ကြရလေသည်။

(၁) ထိုအခါ အနီး၌ရှိသော မြေး၊ မြစ်များနှင့် သားချင်းများက တမန်တော် ယအ်ကူဗ်အား အသင်သည် ယခုထက်တိုင် မိမိ၏ ယခင်အမြင်မှားမှု၌ပင် ရှိနေပေသေးသည်ဟု ဆိုကြလေသည်။ ဆိုလိုသည်ကား တမန်တော် ယအ်ကူဗ်သည် ယူစွဖ်အား အလွန်အကျွံချစ်နေသည်၊ ယူစွဖ်၏ အကြောင်းကိုပင် အမြဲတစေ ပြောဆိုနေသည်၊ ယူစွဖ်နှင့် ပြန်လည်တွေ့ရလိမ့်မည်ဟု မျှော်လင့်နေသည်၊ ၎င်းတို့၏ ယူဆချက်အရ ယူစွဖ်သည် သေဆုံးလေပြီ၊ ထို့အတွက် အကြောင်းရင်းကိုမသိဘဲ မိမိတို့၏ အမြင်ဖြင့် မပြောသင့် မဆိုသင့်သော စကားကို တမန်တော် ယအ်ကူဗ်အား ယင်းကဲ့သို့ ပြောဆိုမိ ကြခြင်းဖြစ်ပေသည်။

قَالَ سَوْفَ أَسْتَغْفِرُ لَكُمْ رَبِّيْ ۖ إِنَّهُ هُوَ الْغَفُوْرُ الرَّحِيْمُ ﴿٩٨﴾

**၉၈။** ထိုဖခမည်းတော်က (ဤသို့)ပြောဆိုဖြေကြား ခဲ့လေသည်။ ငါသည် မကြာမြင့်မီ အသင်တို့အဖို့ မိမိအရှင်မြတ်အထံတော်မှ လွတ်ငြိမ်းချမ်းသာခွင့်ကို အသနားခံ၍ ပေးအံ့၊ ဧကန်စင်စစ် ထိုအရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့်ပေးသနားတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာတော်မူသော အရှင်မြတ် ဖြစ်တော်မူပေသတည်း။

فَلَمَّا دَخَلُوْا عَلٰى يُوْسُفَ اٰوٰۤى إِلَيْهِ أَبَوَيْهِ وَقَالَ ادْخُلُوْا مِصْرَ إِنْ شَآءَ اللّٰهُ اٰمِنِيْنَ ﴿٩٩﴾

**၉၉။** ထို့နောက် တစ်ဖန်၊ ၎င်းတို့ (သားအမိသားအဖအားလုံးတို့) (အီစ်ရာအီလီတစ်မျိုးသားလုံးတို့)သည် ယူစွဖ်ထံသို့ ဝင်ရောက်ခဲ့ကြလေသောအခါ ထိုယူစွဖ်သည် မိမိခမည်းတော် မယ်တော်နှစ်ပါးကို မိမိထံတွင် နေရာချ၍ပေးခဲ့လေသည်။ ၎င်းပြင် ယင်းယူစွဖ်က (ဤသို့)ပြောဆို လျှောက်ထားခဲ့လေသည်။ (အို-ခမည်းတော်မယ်တော်တို့၊ ခမည်းတော် မယ်တော်နှင့် နောင်တော်တို့အားလုံး) အီဂျစ်မြို့ထဲသို့ ကြွမြန်းတော်မူကြပါ၊ အလ္လာဟ်အရှင်မြတ်သည် အလိုရှိတော်မူပါလျှင် ဘေးရန်ကင်းငြိမ်းစွာ (နေထိုင်ကြရပါမည် ဖြစ်ပါသည်)။

وَرَفَعَ أَبَوَيْهِ عَلَى الْعَرْشِ وَخَرُّوْا لَهُ سُجَّدًا ۚ وَقَالَ يٰۤأَبَتِ هٰذَا تَأْوِيْلُ رُءْيَايَ

**၁၀၀။** ထို့ပြင် ယင်းယူစွဖ်သည် မိမိခမည်းတော်နှင့်မယ်တော် နှစ်ပါးတို့အား ရာဇပလ္လင်ထက်ဝယ် စမ္ပယ်စေခဲ့လေသည်။ ထို့နောက် ယင်း (ခမည်းတော်နှင့်နောင်တော်) အားလုံးတို့သည် ထိုယူစွဖ်၏ ရှေ့ဝယ် *ညွတ်ခဲ့ကြလေသည်။* [၁] ဦးချခဲ့ကြလေသည်။

---

(၁) တမန်တော်ယူစွဖ် မြင်မက်ခဲ့သည့် အိပ်မက် လက်တွေ့သရုပ်သကန်ပေါ်လာခြင်း၊

တမန်တော်ယူစွဖ်(အလိုင်ဟစ္စလာမ်)သည် မိမိ၏ မိဘနှစ်ပါးတို့အား ဂါရဝတရားရှေ့ထား၍ ရှိသေလေးမြတ်သောအားဖြင့် ရာဇပလ္လင်ပေါ်၌ နေရာပေးခဲ့လေသည်။ ထိုအချိန်တွင် ထုံးတမ်းစဉ်လာအရ မိဘနှစ်ပါးနှင့်တကွ ညီတော်နောင်တော် ၁၁-ဦးတို့သည် တမန်တော်ယူစွဖ်၏ရှေ့မှောက်တွင် ဦးချကြလေတော့သည်။ ဤသို့အားဖြင့် တမန်တော်ယူစွဖ် ငယ်ရွယ်စဉ်က မြင်မက်ခဲ့ဖူးသောအိပ်မက်သည် လက်တွေ့ ➤➤

مِنْ قَبْلُ قَدْ جَعَلَهَا رَبِّيْ
حَقًّا ۚ وَقَدْ أَحْسَنَ بِيْٓ إِذْ
أَخْرَجَنِيْ مِنَ السِّجْنِ
وَجَاۤءَ بِكُمْ مِّنَ الْبَدْوِ مِنْۢ
بَعْدِ أَنْ نَّزَغَ الشَّيْطٰنُ
بَيْنِيْ وَبَيْنَ إِخْوَتِيْ ۚ إِنَّ رَبِّيْ
لَطِيْفٌ لِّمَا يَشَاۤءُ ۚ
إِنَّهٗ هُوَ الْعَلِيْمُ الْحَكِيْمُ ١٠٠

ထိုအခါ ယင်းယူစွဖ်က အို-ကျွန်ုပ်၏ ဖခမည်းတော်၊ ဤသည်ပင် ကျွန်ုပ် ရှေးဦးမဆွက မြင်မက်ခဲ့သော အိပ်မက်၏ ဒိဗ်ရမ်ဖြစ်ပါသည်၊ မလွဲဧကန် ကျွန်ုပ်၏အရှင်မြတ်သည် ထိုအိမ်မက်ကို အမှန်ဖြစ်အောင် ပြုပေးတော်မူခဲ့လေသည်။

ၒင်းပြင် ဧကန်မလွဲ ထိုအရှင်မြတ်သည် ကျွန်ုပ်၏အပေါ်၌ ကျွန်ုပ်အား အကျဉ်းထောင်မှအပြင်သို့ ထုတ်တော်မူခဲ့သည့်အချိန်တွင် ကျေးဇူးပြုတော်မူခဲ့လေသည်။ ထိုမှတပါး ရှိင်တွာန်မိစ္ဆာကောင်သည် ကျွန်ုပ်နှင့် ကျွန်ုပ်၏နောင်တော်တို့၏စပ်ကြားဝယ် နှောင့်ယှက် ဖျက်ဆီးခဲ့သည့်နောက်တွင် ထိုအရှင်မြတ်သည် အသင်(ခမည်းတော်၊ မယ်တော်နှင့် နောင်တော်)တို့ အားလုံးကို တောကျေးမှ(ထုတ်၍ ယဉ်ကျေးတိုးတက်လျက်ရှိသော ဤမြို့တော်သို့) ယူဆောင်တော်မူခဲ့လေသည်။

အကယ်စင်စစ် ကျွန်ုပ်၏ အရှင်မြတ်သည် မိမိအလိုရှိတော်မူသည်ကို သိမ်မွေ့စွာ စီမံ၍ပေးတော်မူသောအရှင် ဖြစ်တော်မူပေသည်။ ဧကန်အမှန် ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိ တော်မူသောအရှင်၊ ဉာဏ်အမြော်အမြင်နှင့် ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

---

➤➤ သရုပ်သကန်ပေါ်လာခဲ့လေသည်။

ဤသို့ဦးချခြင်းမှာ ထုံးတမ်းစဉ်လာအရ အရိုအသေပေးခြင်းမျှသာ ဖြစ်ခဲ့သည်။ ဤသို့ ရိုသေသမှု၊ ဦးချမှုသည် ဖခင်ကြီးအာဒမ်လက်ထက်မှ တမန်တော်အီစာ(အလိုင်ဟစ္စလာမ်) လက်ထက်အထိ တရားဝင်အဖြစ် တည်ရှိခဲ့သည်။ ယခု အစ္စလာမ် သာသနာတော်တွင်မူ ပျပ်ဝပ်ဦးချမှုသည် အလ္လာဟ်အရှင်မြတ် အတွက်သာလျှင် သီးသန့်ဖြစ်ပေသည်။ ထို အရှင်မြတ်မှတပါး အခြားကို ဦးချခြင်းသည် လုံးဝ "ဟရာမ်" ဟူ၍ ပိတ်ပင်တားမြစ်ထားသည်။

رَبِّ قَدْ آتَيْتَنِي مِنَ الْمُلْكِ
وَعَلَّمْتَنِي مِن تَأْوِيلِ
الْأَحَادِيثِ ۚ فَاطِرَ السَّمَاوَاتِ
وَالْأَرْضِ أَنتَ وَلِيِّي فِي الدُّنْيَا
وَالْآخِرَةِ ۖ تَوَفَّنِي مُسْلِمًا
وَأَلْحِقْنِي بِالصَّالِحِينَ ﴿١٠١﴾

**၁၀၁။** အိုး-ကျွန်တော်မျိုးအား ဖန်ဆင်းတော်မူသော အရှင်၊ ဧကန်မလွဲ အရှင်မြတ်သည် ကျွန်တော်မျိုးအား စိုးမိုးအုပ်ချုပ်မှုကို ချီးမြှင့်ပေးသနားတော်မူခဲ့ပါသည်။ ထို့မှတစ်ပါး အရှင်မြတ်သည် ကျွန်တော်မျိုးအား အိပ်မက်များ၏ ဒိဗ်ဓမ်ကိုလည်း သင်ကြားပေးတော်မူခဲ့ပါသည်။ 'အို-မိုးကောင်းကင်များနှင့် ပထဝီမြေကို ဖန်ဆင်းတော်မူသောအရှင်၊ အရှင်မြတ်သည် (ဤ)ပစ္စုပ္ပန် လောကီဘဝ၌လည်းကောင်း၊ နောင်တမလွန်ဘဝ၌လည်းကောင်း၊ ကျွန်တော်မျိုး၏ကိစ္စအဝဝကို စီမံပေးတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပါသည်။ အရှင်မြတ်သည် ကျွန်တော်မျိုးအား (မွတ်စ်လင်မ်) အမိန့်တော်ကို လိုက်နာသူ အဖြစ်နှင့် ကျွန်တော်မျိုး၏အသက်ဇီဝိန်ကို နှုတ်သိမ်းတော်မူပါ၊ ထို့မှတစ်ပါး အရှင်မြတ်သည် ကျွန်တော်မျိုးအား သူတော်စင်တို့နှင့်အတူတွဲဖက်၍ ပေးတော်မူပါ။ ၁

ذَٰلِكَ مِنْ أَنبَاءِ الْغَيْبِ
نُوحِيهِ إِلَيْكَ ۖ وَمَا كُنتَ
لَدَيْهِمْ إِذْ أَجْمَعُوا أَمْرَهُمْ
وَهُمْ يَمْكُرُونَ ﴿١٠٢﴾

**၁၀၂။** ဤအကြောင်း အတ္တုပ္ပတ္တိသည်ကား အကွယ်၌ရှိသော သတင်းများအနက်မှပင် ဖြစ်ပေသည်။ ငါအရှင်မြတ်သည် ယင်းအကြောင်း အတ္တုပ္ပတ္တိကို အသင်(မုဟမ္မဒ်)ထံသို့ ဝဟ်ယ်ဖြင့် ပေးပို့တော်မူလေသည်။ စင်စစ်တစ်မှုကား ထိုသူတို့သည် မိမိတို့အရေးကိစ္စကို တစ်စည်းတစ်လုံးတည်း ဆုံးဖြတ်စဉ်အခါ၌လည်းကောင်း၊ ထိုသူတို့သည် ကြံစည်လျက်ရှိနေကြစဉ်အခါ၌လည်းကောင်း၊ အသင်(မုဟမ္မဒ်)သည် ထိုသူတို့ထံ၌ ရှိခဲ့သည်မဟုတ်ပေ။ ၂

---

(၁) တမန်တော်မြတ်ယူစွဖ် (အလိုင်ဟစ္စလာမ်)သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်အဟုန်ဖြင့် ဒုက္ခကြီးငယ်အသွယ်သွယ်တို့မှ လွတ်မြောက်ခဲ့လေပြီ၊ နဗီတမန်တော်လည်း ဖြစ်ရပြီ၊ မင်းလည်းဖြစ်ရပြီ၊ ကွဲကွာနေခဲ့ရသော မိဘ၊ ညီတော်၊ နောင်တော်များနှင့်လည်း တွေ့ရပြီ၊ တိုင်းပြည်အဝန်းကိုလည်း အစာခေါင်းပါးခြင်းကပ်မှ ကယ်တင်နိုင်ခဲ့ပြီ၊ ဤပစ္စက္ခဘဝတွင် လိုအင်ဆန္ဒအဝဝနှင့်လည်း ပြည့်စုံပြီ။ ထို့အတွက် နှစ်ဘဝ၏ ➤➤

وَمَآ أَكۡثَرُ ٱلنَّاسِ وَلَوۡ حَرَصۡتَ بِمُؤۡمِنِينَ ﰒ

၁၀၃။ အမှန်စင်စစ် အသင်သည် (၎င်းတို့ သက်ဝင်ယုံကြည်ကြရန်) မည်မျှပင်တပ်မက်ငြားလည်း (၎င်းတို့အနက်) အများဆုံးသောသူတို့မှာမူကား မုအ်မင်န် သက်ဝင်ယုံကြည်သူများဖြစ်ကြမည်မဟုတ်ချေ။ ၁

وَمَا تَسۡـَٔلُهُمۡ عَلَيۡهِ مِنۡ أَجۡرٍۚ إِنۡ هُوَ إِلَّا ذِكۡرٞ لِّلۡعَٰلَمِينَ ﰓ

၁၀၄။ အမှန်သော်ကား အသင်သည် ၎င်းတို့ထံမှ ဤတရားဓမ္မဟောကြားခြင်းနှင့်စပ်လျဉ်း၍ အခကြေးငွေ တစ်စုံတစ်ရာကိုမျှ တောင်းသည်မဟုတ်ပေ။ ဤ (ကုရ်အာန်ကျမ်းတော်)သည်ကား စကြာဝဠာ ခပ်သိမ်းတို့အဖို့ ဆုံးမသြဝါဒသာလျှင် ဖြစ်ပေသတည်း။ ၂

---

➤➤ ကောင်းစားရေးကို ရှေ့ရှုကာ အဘ၊ အဘိုး၊ အဘေးတို့၏ အဆင့်အတန်းကို မျှော်မှန်း၍ ဤအာယတ်တော်လာရှိသည့်အတိုင်း ကျွန်တော်မျိုးအား မွတ်စ်လင်မ် (အမိန့်တော် နာခံသူ) အဖြစ်နှင့် အသက် နှုတ်တော်မူပါ။ ၎င်းပြင် ကျွန်တော်မျိုးအား သူတော်စင်များနှင့်အတူ ပူးတွဲထားတော်မူပါ' ဟု ဆုတောင်း ပတ္ထနာ ပြုလေတော့သည်။

(၂) တမန်တော်ယူစွဖ်၏ နောင်တော်ကြီးများသည် ညီတော်ယူစွဖ်အား ဖခင်ကြီးထံမှ ခေါ်ဆောင်၍ ညီတော်အား လုပ်ကြံရန် အချင်းချင်း ဆွေးနွေးတိုင်ပင် နေခဲ့ကြသည့်အချိန်တွင် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)သည် ၎င်းတို့ထံပါးတွင် ရှိနေခဲ့သည် မဟုတ်ပေ။ ၎င်းတို့၏ စကားများကိုလည်း ကြားသိခဲ့ရသည် မဟုတ်ပေ၊ ၎င်းတို့၏ အပြုအမူများကိုလည်း တွေ့မြင်ခဲ့ရသည်မဟုတ်ပေ။ ထို့ပြင်တဝ တမန်တော်မြတ်သည် ရေးတတ် ဖတ်တတ်သည်လည်း မဟုတ်ပေ၊ လူပုဂ္ဂိုလ်တစ်ဦးတစ်ယောက်ထံမှ သင်ကြားမှတ်ယူခွင့်လည်း မရရှိခဲ့ပေ။

သို့ပါလျက် ယခုကဲ့သို့ တမန်တော်ယူစွဖ်၏ အတ္ထုပ္ပတ္တိကို အသေးစိတ်တိကျမှန်ကန်စွာ ပြောပြနိုင်ခြင်းမှာ အလ္လာဟ်အရှင်မြတ်၏ ဝဟီပို့တော်မူခြင်း၏ အကျိုးသာလျှင် ဖြစ်သည်မှာ ယုံမှားဖွယ်အလျှင်းမရှိပေ။

(၁) တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၌ နဗီတမန်တော် အစစ်အမှန် ဖြစ်တော်မူကြောင်းနှင့် ပတ်သက်၍ ဤမျှလောက်ပျု ထင်ရှားသော အထောက်အထား သက်သေသာဓကများရှိပြီး၊ တမန်တော်မြတ်သည် လူသားတို့၏ အီမာန်သက်ဝင်ယုံကြည်မှုကို အဘယ်မျှပင် တပ်မက်ငြားသော်လည်း လူသားတို့အနက် အများစုမှာမူ သက်ဝင်ယုံကြည်ကြမည်မဟုတ်ပေဟူ၏။

(၂) ကုရ်အာန်ကျမ်းမြတ်သည် ကမ္ဘာ့အဝန်းအဖို့ အဆုံးမသြဝါဒတော်ဖြစ်သည်။ တမန်တော်မြတ်သည် ထိုကုရ်အာန်ကျမ်းလာ အဆုံးအမ သြဝါဒတော်များကို လူသားတို့အား ဟောကြားတော်မူသည်။ သို့ဟောကြားတော်မူရာ၌လည်း တစ်စုံတစ်ရာ အခကြေးငွေ တောင်းတော်မူသည်မရှိပေ။ သို့ပါလျက် ကုရ်အာန်ကျမ်းလာ အဆုံးအမများကို မနာခံပါက မနာခံသူသည်သာလျှင် ဆုံးရှုံးရပေမည်။ တမန်တော်မြတ်၌ကား တစ်စုံတစ်ရာ ဆုံးရှုံးရန်မရှိပေ။ တမန်တော်မြတ်၏တာဝန်ကား ဟောကြားရန်ဖြစ်၏။ တမန်တော်မြတ်သည် မိမိ၏တာဝန်ကို ကျေပွန်စွာ ထမ်းဆောင်ပြီး ဖြစ်တော်မူချေပြီ၊ ယခုမူ ထိုသည့် တရားဒေသနာတော်များကို ကြားနာကြကုန်သော ➤➤

وَكَأَيِّن مِّنْ ءَايَةٍ فِى السَّمَٰوَٰتِ وَالْأَرْضِ يَمُرُّونَ عَلَيْهَا وَهُمْ عَنْهَا مُعْرِضُونَ ١٠٥

၁၀၅။ စင်စစ်မူကား မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ မြောက်မြားစွာသော သက်သေလက္ခဏာများ ရှိကြပေသည်။ ၎င်းတို့သည် *ယင်းသက်သေလက္ခဏာများဘက်မှ ဖြတ်ကျော်၍ သွားကြလေသည်။* [၁] သို့ရာတွင် ၎င်းတို့သည် ယင်းသက်သေ လက္ခဏာများ မျက်နှာလွှဲသွားသူများ ဖြစ်လျက် ရှိကြကုန်သတည်း။

وَمَا يُؤْمِنُ أَكْثَرُهُم بِاللَّهِ إِلَّا وَهُم مُّشْرِكُونَ ١٠٦

၁၀၆။ စင်စစ်သော်ကား ၎င်းတို့အနက် များစွာသော သူတို့သည် အလ္လာဟ်အရှင်မြတ်အား တစ်စုံတစ်ရာကို ထိုအရှင်မြတ်နှင့် တွဲဖက် နှိုင်းယှဉ်ကိုးကွယ်ခြင်း မပြုဘဲ သက်ဝင်ယုံကြည်ကြသည် မဟုတ်ပေတကား။

أَفَأَمِنُوا أَن تَأْتِيَهُمْ غَاشِيَةٌ مِّنْ عَذَابِ اللَّهِ أَوْ تَأْتِيَهُمُ السَّاعَةُ بَغْتَةً وَهُمْ لَا يَشْعُرُونَ ١٠٧

၁၀၇။ ထိုသူတို့သည် မိမိတို့၌ အလ္လာဟ်အရှင်မြတ်၏ထံတော်မှ (တစ်မျိုးသားလုံးကို) ဖုံးလွှမ်းမည့် ပြစ်ဒဏ်သည် သက်ရောက်မည်ကို လည်းကောင်း၊ သို့တည်းမဟုတ် ယင်းသူတို့ အမှုမဲ့အမှတ်မဲ့ ရှိနေကြစဉ် ကိယာမတ်သည်ရတ်တရက်အားဖြင့် ဆိုက်ရောက်မည်ကိုလည်းကောင်း၊ စိုးရိမ်ခြင်းမရှိဘဲ စိတ်ချ၍ နေကြလေသလော။ [၂]

---

>> လူသားတို့၏ တာဝန်သာ ကျန်ရှိပေတော့သည်။ လိုက်နာက အကျိုးရမည်။ မလိုက်နာက အကျိုးယုတ်မည်သာတည်း။

(၁) ကာဖိရ်၊ မုရှ်ရစ်ကဲများသည် ထုတ်ပြန် ချမှတ်ထားတော်မူသည့် တရားဒေသနာတော်များကို ကြားနာပြီး၊ တမန်တော်မြတ်အား မယုံကြည်ကြသကဲ့သို့ပင် မိုး၊ မြေ၌ရှိသည့် မြောက်မြားစွာသော သက်သေလက္ခဏာတော်များကို ဆင်ခြင်ပြီး အလ္လာဟ်အရှင်မြတ် တစ်ဆူတည်း ရှိတော်မူခြင်းကိုလည်း မယုံကြည်ကြပေ။ သတိမမူဂူမမြင် ဆိုသကဲ့သို့ ၎င်းတို့သည် ကျမ်းဂန်လာ ဒေသနာတော်များကိုလည်း မလိုက်နာကြပေ။ နေ့စဉ်နှင့်အမျှ တွေ့မြင်နေကြရသည့် သက်သေလက္ခဏာတော်များကိုလည်း မဆင်ခြင်၊ မစဉ်းစားကြပေ။ အမှုမဲ့ အမှတ်မဲ့သာ နေထိုင်၍ အချိန်ဖြုန်းတီး၍သာ နေကြပေမည်။

(၂) ကုဖ်ရ်၊ ရှစ်ရ်က်၏ အကျိုးမှာ ပြစ်ဒဏ်တော်ပင် ဖြစ်သည်။ ထိုပြစ်ဒဏ်တော်သည် ဤပစ္စက္ခဘဝတွင်လည်း သက်ရောက်နိုင်၏။ ကိယာမတ်နေ့တွင်လည်း သက်ရောက်နိုင်၏။ သို့ဖြစ်ပေရာ ကာဖိရ်၊ >>

قُلْ هَٰذِهِۦ سَبِيلِىٓ أَدْعُوٓا۟ إِلَى ٱللَّهِ ۚ عَلَىٰ بَصِيرَةٍ أَنَا۠ وَمَنِ ٱتَّبَعَنِى ۖ وَسُبْحَٰنَ ٱللَّهِ وَمَآ أَنَا۠ مِنَ ٱلْمُشْرِكِينَ ﴿١٠٨﴾

**၁၀၈။** (အို-နဗီတမန်တော် အသင်သည် (၎င်းတို့အားဤသို့)ပြောကြားပါလေ။ ဤသည်သာလျှင် ငါ၏လမ်းစဉ်ဖြစ်ပေသည်။ ငါသည် (လူခပ်သိမ်းတို့အား) အလ္လာဟ်အရှင်မြတ်ဘက်သို့ ဖိတ်ခေါ်သည်။ ငါနှင့်တကွ၊ငါ၏နောက်လိုက်တို့သည်လည်း အလွန်ထင်ရှားခိုင်လုံသော သက်သေသာဓကအပေါ်၌ တည်ရှိနေကြပေသည်။

ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် (ချို့တဲ့မှုအပေါင်းတို့မှ) သန့်ရှင်း စင်ကြယ်တော်မူသောအရှင်ဖြစ်တော်မူပေသည်။ ထိုမှတစ်ပါး ငါသည် တစ်စုံတစ်ရာကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်နိူင်းယှဉ်ကိုးကွယ်သောသူတို့အနက်မှ မဟုတ်ချေ။ ၁

➤➤ မုရှ်ရစ်က် တို့သည် ထိုသည့်ပြစ်ဒဏ်ကို ကြောက်ရွံ့၍ ကုဖ်ရ်၊ ရှစ်ရ်က် အမှု အစုစုတို့ကို စွန့်ပယ်ကြပြီး အချိန်မီ အီမာန် ယုံကြည်ကြရန်သာ ရှိသည်။ ယခုမူ ယင်းကာဖိရ်၊ မုရှ်ရစ်က်တို့သည် မိမိတို့၌ သက်ရောက်မည့် ပြစ်ဒဏ်တော်မှ စိတ်ချ၍ပင် နေကြလေသလော။ ပြစ်ဒဏ်တော်မှ စိတ်ချစွာ နေနိုင်ရန် အစီအစဉ်များ ပြုလုပ်ထားကြလေသလော။ ထာနဝီကို မှီးသည်။

① အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား ကမ္ဘာအဝန်းသို့ ကြေညာစေတော်မူသည်မှာ - ကျွန်ုပ်၏ လမ်းစဉ်သည် တောင်ဟီးဒ်၏ လမ်းစဉ်သာ ဖြစ်သည်။ ကျွန်ုပ်သည် ကမ္ဘာလူထုကြီးတစ်ရပ်လုံးအား ၎င်းတို့၏ မဟုတ်မမှန်သော အတွေးအခေါ်အယူအဆများကို စွန့်လွှတ်၍ 'တောင်ဟီးဒ်' ကိုလက်ခံကာ တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ကြရန်နှင့် ထိုအရှင်မြတ် တစ်ဆူတည်းရှိတော်မူခြင်း၊ ထိုအရှင်မြတ်၏ အနန္တော အနန္တ ဂုဏ်တော် တန်ခိုးများ၊ ထိုအရှင်မြတ်၏ အမိန့်ပညတ်တော်များကို မှန်ကန်သောနည်းဖြင့် မှန်ကန်စွာ သိနားလည်ပြီး အမှန်အတိုင်း လိုက်နာကျင့်သုံးကြရန် ဖိတ်ခေါ်ပါသည်။

ကျွန်ုပ်နှင့်တကွ ကျွန်ုပ်၏ နောက်လိုက်များသည်လည်း ဤသည့် ဖြောင့်မတ်မှန်ကန်သော လမ်းစဉ်ပေါ်၌ပင် မှန်ကန်သောနည်းဖြင့် မှန်ကန်သော သက်သေသာဓက အထောက်အထားများအရ တည်ရှိနေကြပါသည်။ ကျွန်ုပ်တို့သည် ဤသည့် လမ်းစဉ်အပေါ်၌ မစဉ်းစား မဆင်ခြင်ဘဲ မျက်စိမှိတ်ပြီး ဖွတ်တရွတ် တည်ရှိနေကြသည် မဟုတ်ပေ။ အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်အား အလင်းရောင်တစ်ခုပေးတော်မူ၏။ ထိုအလင်းရောင်ဖြင့် ကျွန်ုပ်၏ နောက်လိုက်တပည့်များ၏ ဦးနှောက်သည် လင်းဝင်းသွားခဲ့ပေသည်။ တောင်ဟီးဒ်ကို ယုံကြည်သူတိုင်းသည် မိမိ၏ အတွင်း၌ အမှန်တရား၏ အရသာကိုခံစားကာ ခြေလှမ်းတိုင်းတွင် 'အလ္လာဟ်အရှင်မြတ်သည် သန့်ရှင်းစင်ကြယ်တော်မူပါဘိ၊ ကျွန်ုပ်သည် မုရှ်ရစ်က်များတွင် အပါအဝင် မဟုတ်ပါ' ဟု အလိုအလျောက် ကြွေးကြော်လျက်ရှိပေသည်။

وَمَآ اَرۡسَلۡنَا مِنۡ قَبۡلِكَ اِلَّا رِجَالًا نُّوۡحِىۡۤ اِلَيۡهِمۡ مِّنۡ اَهۡلِ الۡقُرٰى ؕ اَفَلَمۡ يَسِيۡرُوۡا فِى الۡاَرۡضِ فَيَنۡظُرُوۡا كَيۡفَ كَانَ عَاقِبَةُ الَّذِيۡنَ مِنۡ قَبۡلِهِمۡ ؕ وَلَدَارُ الۡاٰخِرَةِ خَيۡرٌ لِّلَّذِيۡنَ اتَّقَوۡا ؕ اَفَلَا تَعۡقِلُوۡنَ ﴿۱۰۹﴾

**၁၀၉။** စင်စစ်သော်ကား ငါအရှင်မြတ်သည် မြို့ရွာများ၌ နေထိုင်ကြကုန်သော သူတို့အနက်မှ *ယောကျာ်းများကိုသာလျှင်(ရစူလ်တမန်တော်များအဖြစ်)* စေလွှတ်တော်မူ၍ [၁] ၎င်းတို့ထံသို့ ဝဟ်ယ်ပို့တော်မူခဲ့လေသည်။

(သို့ပါလျက်) ဤသူတို့သည် ကမ္ဘာမြေပေါ်ဝယ် လှည့်လည်သွားလာခြင်းကို မပြုကြလေသလော။ ထိုသို့ လှည့်လည်သွားလာကြပါလျှင် ၎င်းတို့သည် မိမိတို့အလျှင် ရှိခဲ့ဖူးကြသော သူတို့၏ နောက်ဆုံးအကျိုးသည် မည်ကဲ့သို့ ရှိခဲ့သည်ကို ရှုမြင်ကြပေမည်။

အမှန်စင်စစ်သော်ကား နောင်တမလွန်ဘဝ၏ နေရာထိုင်ခင်းသည် ပြစ်မှုဒုစရိုက်များမှ ကြဉ်ရှောင်သောသူတို့အဖို့ အကောင်းဆုံးပင် ဖြစ်ပေသည်။ သို့ပါလျက်အသင်တို့သည် (ဤမျှပင်) နားမလည်ကြလေသလော။

---

(၁) ကာဖိရ်၊ မုရှ်ရစ်က်တို့၏ တင်ပြယူဆချက်အရ တမန်တော်များသည် လူသားများမဖြစ်နိုင်၊ ကောင်းကင်တမန်များသာလျှင် တမန်တော်များ ဖြစ်နိုင်ကြပေသည်။ ၎င်းတို့၏ ဤမှားယွင်းလျက်ရှိသော ထင်မြင်ယူဆချက်ကို ပယ်ဖျက်တော်မူရန်အတွက် ဤအာယတ်တော်တွင် အတိတ်ခေတ်များ၌ အလ္လာဟ်အရှင်မြတ်သည် လူသားတို့အနက်မှပင် တမန်တော်များကို စေလွှတ်တော်မူခဲ့သည့်အကြောင်း အတိအလင်း မိန့်ဆိုထားတော်မူသည်။

ကြည့်- ကုရ်အာန်- (၁၇း ၉၄-၉၅)

ထို့ပြင်တဝ ယင်းသည့် ကာဖိရ်၊ မုရှ်ရစ်က်များ အချိန်မီ သတိသံဝေဂ ရရှိရန်အတွက် ၎င်းတို့အလျှင် အတိတ်ခေတ်များတွင် တမန်တော်များအား သွေဖည်ငြင်းဆန် မနာခံကြသော လူမျိုးအသီးသီးတို့ အပျက်ကြီးပျက်စီးသွားခဲ့ကြသည့် အကြောင်းကိုလည်း မိန့်ဆိုထားတော်မူသည်။ ကာဖိရ်၊ မုရှ်ရစ်က်တို့သည် ဤသည့်အချက်များကို ကမ္ဘာလှည့်၍ လေ့လာသင့်ပေသည်။

ထိုမှတစ်ပါး ယင်းကာဖိရ် မုရှ်ရစ်က်များ စဉ်းစားဆင်ခြင်အပ်သည်မှာ ဤပစ္စက္ခဘဝတွင် ကာဖိရ်၊ မုရှ်ရစ်က်များသည်လည်း ကောင်းစွာ နေထိုင်အသက်မွေးမြူခွင့် ရရှိကြပေသည်။ သို့ရာတွင် ဤပစ္စက္ခဘဝသည် သန်္ခါရမျှသာ ဖြစ်သည်။ နောင်တမလွန် ဘဝသည် ထာဝရဖြစ်သည်။ ထိုသည့်ထာဝရ နောင်တမလွန်ဘဝ၏ ထာဝရ စည်းစိမ် ချမ်းသာများကိုမူ ကာဖိရ်၊ မုရှ်ရစ်က်တို့အလျှင်းခံစားကြရမည်မဟုတ်၊ ကုဖ်ရ်၊ ရှစ်ရ်က် အမှုအစုစုတို့မှ ရှောင်ကြဉ်ကုန်သော မုအ်မင်န်သူတော်စင်များသာလျှင် ခံစားကြရပေမည်။ ➢➢

حَتّٰۤى اِذَا اسْتَيْـَٔسَ الرُّسُلُ وَظَنُّوْۤا اَنَّهُمْ قَدْ كُذِبُوْا جَآءَهُمْ نَصْرُنَا ۙ فَنُجِّىَ مَنْ نَّشَآءُ ؕ وَلَا يُرَدُّ بَاْسُنَا عَنِ الْقَوْمِ الْمُجْرِمِيْنَ ﴿١١٠﴾

၁၁၀။ နောက်ဆုံးတွင် ရစူလ်တမန်တော်များသည် မျှော်လင့်ချက်ကင်း၍ အမျိုးသားတို့ကလည်း ယင်းရစူလ်တမန်တော်များသည် အလိမ်ခံခဲ့ကြရလေပြီဟုထင်မှတ်ခဲ့ကြသောအခါ *ငါအရှင်မြတ်၏အကူအညီသည် ယင်းရစူလ်တမန်တော်များထံ (ရုတ်တရက်) ရောက်ရှိခဲ့လေသည်။* [၁] ထိုအခါငါအရှင်မြတ် အလိုရှိတော်မူသောသူသည် ကယ်တင်ခြင်းကို ခံခဲ့ရလေသည်။ စင်စစ်သော်ကား ငါအရှင်မြတ်၏ ပြစ်ဒဏ်သည် ပြစ်မှုကျူးလွန်သူတို့အပေါ်မှ ပယ်ရှားသွားသည် မဟုတ်ချေတကား။

---

➤➤ **မှတ်ချက်။**

ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် တမန်တော်များသည် အမျိုးသားများအနက်မှသာ ဖြစ်ခဲ့ကြောင်း၊ အမျိုးသမီးတစ်ဦးမျှ တမန်တော်မဖြစ်ခဲ့ကြောင်းကို ကောင်းစွာ သိနိုင်ပေသည်။

မရ်ယမ်သခင်မသည်ပင် 'ဆွစ်ဒီကဟ်' 'အလွန်မှန်ကန်သူ'ဟူသော ဘွဲ့နာမကိုသာ ချီးမြှင့်တော်မူခြင်း ခံခဲ့ရပေသည်။ တမန်တော်မ,ကား မဟုတ်ခဲ့ပေ။

(၁) ပြစ်ဒဏ်ခတ်တော်မူရာတွင် အချိန်ကြာသည့်အတွက်ကြောင့် ကာဖိရ်၊ မုရှ်ရစ်က် မိစ္ဆာဒိဋ္ဌိတို့သည် အတွေးမမှားသင့်ကြပေ။ အလ္လာဟ် အရှင်မြတ်သည် အတိတ်ခေတ်ရှိ လူမျိုးအသီးသီး တို့ကိုလည်း ပြစ်ဒဏ်ခတ်တော်မူရာတွင် အချိန်များစွာ ပေးတော်မူခဲ့ပေသည်။ တစ်ခါတစ်ရံ ပြစ်ဒဏ် ကျရောက်ရာတွင် အချိန်အလွန် ကြာသည့်အတွက် မိစ္ဆာဒိဋ္ဌိတို့သည် အစိုးရိမ်ကင်းပြီး ပိုမို ဆိုးမိုက်လာခဲ့ကြ ပေသည်။ ဤသည့် အခြင်းအရာများကို တွေ့မြင်ရသောအခါ တမန်တော်များသည် ယင်းမိစ္ဆာဒိဋ္ဌိတို့ဘက်မှ အီမာန်ယုံကြည်မှု၏ မျှော်လင့်ချက် ကင်းသွားခဲ့ကြလေသည်။

တမန်တော်များသည် သက်ဆိုင်ရာ မိမိတို့၏ အမျိုးသားများအား ပြစ်ဒဏ်တော်ကျရောက်မည့် အကြောင်း ပြောကြားထားကြ၏။ ယခုမူ အလ္လာဟ်အရှင်မြတ်သည် မိစ္ဆာဒိဋ္ဌိတို့အား ပြစ်ဒဏ်ခတ်တော်မူရာတွင် အချိန်ကို အထူးတလည် ဆွဲထားတော်မူ၏။ ပြစ်ဒဏ်တော်ကြရောက်မည့် နိမိတ်လက္ခဏာတစ်စုံတစ်ရာကိုမျှလည်း မမြင်ရသေးချေ။ ထိုသို့သော အချိန်အခါမျိုးတွင် တမန်တော်များသည် အထူးတွေဝေကြပေမည်။ မိစ္ဆာဒိဋ္ဌိများကလည်း ငါတို့အား တမန်တော်များ ပြောကြားသော စကားများသည် ခြိမ်းလုံး ခြောက်လုံးများသာဖြစ်သည်ဟု ပြောဆို၍ စကားနာထိုးကြပေမည်။ ထိုသို့ အပြောအဆိုခံနေကြရသော တမန်တော်များသည် ထိုသို့သော အခြေအနေမျိုးတွင် ပြစ်ဒဏ်တော်အရေးနှင့် စပ်လျဉ်း၍ ငါတို့၏အယူအဆသည်ပင် မှားနေလေသလော။ ငါတို့အား အလ္လာဟ်အရှင်မြတ်က ကူညီတော်မူမည်။ မိစ္ဆာဒိဋ္ဌိတို့အား ကွပ်မျက်တော်မူမည်ဟူသော ကတိတော်သည် ပြည့်များမှ ပြည့်ပါမည်လားဟု လူ့သဘာဝအလျောက် တွေးထင်မိကောင်း တွေးထင်မိကြပေမည်။ ဤသည့် သဘောကို ကုရ်အာန် (၂း ၂၁၄) တွင်လည်း မိန့်ဆိုထားတော်မူသည်။ ဤသို့အားဖြင့် ➤➤

لَقَدْ كَانَ فِيْ قَصَصِهِمْ عِبْرَةٌ لِّاُولِى الْاَلْبَابِ ؕ مَا كَانَ حَدِيْثًا يُّفْتَرٰى وَلٰكِنْ تَصْدِيْقَ الَّذِىْ بَيْنَ يَدَيْهِ وَتَفْصِيْلَ كُلِّ شَىْءٍ وَّهُدًى وَّرَحْمَةً لِّقَوْمٍ يُّؤْمِنُوْنَ ﴿١١١﴾

၁၁၁။ မချွတ်ဧကန် ၎င်းတို့၏အကြောင်း အတ္ထုပ္ပတ္တိများတွင် [1] ဆင်ခြင်သိမြင် နားလည် သူတို့အဖို့ (အကြီးအကျယ်) သင်ခန်းစာသည် ရှိချေသည်။

(ဤကုရ်အာန်ကျမ်းတော်မြတ်သည်) ကြံဖန်လီဆယ်ထားသော ကျမ်းမဟုတ်၊ ယင်း၏အလျင်ရှိနေသော(ကျမ်းများ)ကို အတည်ပြုသောကျမ်းသည်လည်းကောင်း၊ အရာခပ်သိမ်းတို့ကို အသေးစိတ်ရှင်းလင်းမှုသည်လည်းကောင်း၊ သက်ဝင်ယုံကြည်ကြသူတို့အဖို့တရားဓမ္မ ညွှန်ကြားမှုသည်လည်းကောင်း၊ ကရုဏာတော်သည်လည်းကောင်း၊ ဖြစ်ချေသတည်း။

---

➤➤ မိစ္ဆာဒိဋ္ဌိတို့သည် စိုးရိမ်မှုကင်းပြီး ပိုမိုဆိုးမိုက်လာခဲ့ကြ၏။ တမန်တော်မြတ်များသည်လည်း ပူပင်သောကများ၌ တွေဝေလာခဲ့ကြ၏။ ဤရွေ့ဤမျှ အခြေအနေဆိုးလာသောအခါကျမှ ရုတ်တရက် အလ္လာဟ်အရှင်မြတ်၏ အကူအညီ ရောက်ရှိလာလေ၏။ ထိုအရှင်မြတ်သည် ထိုအချိန်တွင် မိမိကာကွယ်ထားလိုသောသူများ (ဝါ) အမိန့်တော် နာခံကြသော မုအ်မင်န်တို့အား ကယ်တင်တော်မူ၏ မိမိကွပ်မျက် ဖျက်ဆီးလိုတော်မူသော သူများအား (ဝါ) အမိန့်တော်မနာခံ သွေဖည်ငြင်းဆန်ကြသော မိစ္ဆာဒိဋ္ဌိတို့အား ချေမှုန်းတော်မူ၏။

① ဤအာယတ်တော်တွင် ပါရှိသည့် '၎င်းတို့၏ အတ္ထုပ္ပတ္တိများတွင်' ဟူသည်၊ အတိတ်ခေတ် ပွင့်လေကုန်သော တမန်တော်များနှင့် ၎င်းတို့၏ အမျိုးသားများ၏ အတ္ထုပ္ပတ္တိများကို ရည်ညွှန်းသည်ဟုလည်း ဆိုနိုင်သည်။ တမန်တော်ယူစွဖ် (အလိုင်ဟစ္စလာမ်)နှင့် ၎င်း၏ နောင်တော်များ၏ အတ္ထုပ္ပတ္တိကို ရည်ညွှန်းသည်ဟုလည်း ဆိုနိုင်ပေသည်။ ဒုတိယအဆိုသည် ပို၍ပင်သင့်လျော်ပေသည်။ ခါဇင်န်ကျမ်းနှင့် အီဗ်နုဂျရီလ်ကျမ်းများတွင်လည်း ဤအတိုင်းတွေ့ရှိရပေသည်။

ဆိုလိုသည်ကား - ကုရ်အာန်ကျမ်းမြတ်တွင်ပါရှိသည့် ဤသည့်အတ္ထုပ္ပတ္တိများသည် ပုံပြင်ဒဏ္ဍာရီ၊ ဝတ္ထုများ မဟုတ်ချေ။ မှန်ကန်သော၊ ရာဇဝင်၊ သမိုင်းမြောက်သော ဖြစ်ရပ်မှန် အတ္ထုပ္ပတ္တိများသာဖြစ်ချေသည်။ ဤသည့် အတ္ထုပ္ပတ္တိများတွင် အသိဉာဏ် အမြော်အမြင် ဆင်ခြင်တုံတရား ရှိသူများအဖို့ သင်ခန်းစာ အကြီးအကျယ်ပါရှိပေသည်။

**သင်ခန်းစာ။**

တမန်တော်ယူစွဖ် (အလိုင်ဟစ္စလာမ်)နှင့် ၎င်း၏ နောင်တော်ကြီးများ၏ အတ္ထုပ္ပတ္တိတွင် စူးစမ်းဆင်ခြင် မြော်မြင်တတ်သော ပုဂ္ဂိုလ်များအဖို့ သင်ခန်းစာရှိပေသည်။ အလ္လာဟ်အရှင်မြတ်သည် တမန်တော်ယူစွဖ်အား ရေတွင်းထဲမှလည်း ထုတ်တော်မူခဲ့၏။ ကျွန်အဖြစ်မှလည်း လွတ်မြောက်စေတော်မူခဲ့၏။ အမျိုးသမီးများ၏ ကျော့ကွင်းမှလည်း လွတ်မြောက်စေရ၏။ အကျဉ်းထောင်အတွင်းမှလည်း လွတ်မြောက်စေခဲ့၏။ ပြန်လည်တွေ့ဆုံရန် မျှော်လင့်ချက်ပင်မရှိသော မိဘ၊ဆွေမျိုးသားချင်းများနှင့်လည်း ပြန်လည်တွေ့ဆုံစေတော်မူခဲ့၏။ ➤➤

---

➤➤ ဘေးဒုက္ခ အကျပ်အတည်း အမျိုးမျိုးမှ လွတ်မြောက်စေတော်မူခဲ့သည်သာမက အီဂျစ်ပြည်တွင် နိုင်ငံချုပ်မင်းအရာကိုလည်း ချီးမြှင့်တော်မူခဲ့၏။ တမန်တော်ယူစွဖ်အား ယင်းကဲ့သို့ ဘေးဒုက္ခအပေါင်းမှ လွတ်မြောက်စေပြီး အီဂျစ်ပြည်၏ နိုင်ငံချုပ်မင်းအရာကို ချီးမြှင့်တော်မူနိုင်သော အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) အား မိစ္ဆာဒိဋ္ဌိတို့၏ ဘေးရန်အပေါင်းမှ လွတ်မြောက်စေ၍ တိုင်းပြည်တွင် အဓိပတိအရာကို ချီးမြှင့်တော်မူနိုင်သည် မဟုတ်ပါလော။ ချီးမြှင့်တော်မူခဲ့သည်မှာလည်း ရာဇဝင်အထင်အရှားပင်။

ထို့အတူ ထိုအရှင်မြတ်သည် မျက်မြင်အားဖြင့် နိမ့်နေကျသော လူမျိုးတစ်မျိုး၊ အုပ်စုတစ်စု၊ ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်ကိုလည်း မြှင့်တင်ပေးတော်မူနိုင်သည် မဟုတ်ပါလော။ ယနေ့ကျွန်ုပ်သည် တမန်တော် ယူစွဖ် (အလိုင်ဟစ္စလာမ်)၊ တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ချမှတ်တော်မူခဲ့သော လမ်းစဉ်ကို လိုက်နာကျင့်သုံးပါက အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့အားလည်း နိမ့်ရာမှ မြင့်ရာသို့ မြှင့်တင်ပေးတော်မူမည်မှာအမှန်ပင်။

## မိုးချုန်းသံ ကဏ္ဍ

سُوْرَةُ الرَّعْدِ

'စူရဟ် ရအ်ဒ်-မိုးချုန်းသံ ကဏ္ဍ' သည် မက္ကာမြို့တော်၌ ကျရောက်ခဲ့သည်။
ဤကဏ္ဍတွင် အာယတ်တော် ၄၃ နှင့် ရကုအ်အပိုဒ် ၆ အသီးသီးပါရှိသည်။ [၁]

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ အစဉ်အမြဲ
သနားကြင်နာသညာတာတော်မူထသော
အနန္တကရုဏာတော်ရှင်ဖြစ်တော်မူထသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

الٓمّٓرٰ

၁။ *အလစ်ဖ်၊ လာမ်၊ မီမ်၊ ရာ။* [၂]

تِلْكَ اٰيٰتُ الْكِتٰبِ ؕ وَالَّذِيْٓ اُنْزِلَ اِلَيْكَ مِنْ رَّبِّكَ الْحَقُّ وَلٰكِنَّ اَكْثَرَ النَّاسِ لَا يُؤْمِنُوْنَ ①

ဤသည်တို့ကား (ထွတ်မြတ်လှစွာသော ကုရ်အာန်) ကျမ်းတော်မြတ်၏ ဒေသနာတော်များပင်တည်း။ စင်စစ်မူကား အသင့်ထံ အသင့်အားဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်မှ ကျရောက်လာသော တရားတော်များသည် (လုံး၀) *အမှန်ပင်ဖြစ်ချေသည်။* [၃] သို့ရာတွင် လူသားတို့အနက် မြောက်မြားစွာသောသူများမူကား သက်ဝင်ယုံကြည်ကြသည် မဟုတ်ပေ။

---

(၁) **မှတ်ချက်။**

အချို့က ဤကဏ္ဍသည် မက္ကာမြို့တော်တွင် ထုတ်ပြန်ချမှတ်တော်မူသောကဏ္ဍ ဖြစ်သည်ဟု ဆိုကြသည်။ အချို့ကမူ ဤကဏ္ဍသည် မဒီနာမြို့တော်၌ ထုတ်ပြန်ချမှတ်တော်မူသောကဏ္ဍ ဖြစ်သည်ဟု ဆိုကြသည်။ အချို့က ဤကဏ္ဍလာ အာယတ်တော်များကို အာယတ် (၄၃)ဟူ၍ ရေတွက်ကြသည်။ အချို့ကမူ အာယတ် (၄၄)၊ (၄၅)၊ (၄၆) ဟူ၍လည်းကောင်း၊ အမျိုးမျိုး ရေတွက်ကြသည်။ ဤကဏ္ဍတွင် ပုဒ် (၈၅၅)၊ အက္ခရာ (၃၅၀၆) အသီးသီးပါရှိသည်။

(၂) ကုရ်အာန်ကျမ်းမြတ် အချို့ကဏ္ဍများ၏အစတွင် အဓိပ္ပါယ်လျှို့ဝှက်ထားသော အချို့အက္ခရာစုများကို တွေ့ရှိရသည်။ ယင်းသို့သော အက္ခရာစုများကို (حروف مقطعة) ဟုခေါ်သည်။ ထိုသည့်အက္ခရာစုများ၏ အနက်သဘောကို အလ္လာဟ်အရှင်မြတ်သည်သာ အတိအကျ သိတော်မူသည်။

(၃) အီဗ်နုအဗ္ဗားစ်နှင့် ကဘာဒဟ်၏ ဖွင့်ဆိုချက်အရ ဤသည့် ဒေသနာတော်များသည် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ်သည် အသင်(တမန်တော်မုဟမ္မဒ်)ထံသို့ အသင်၏ အရှင်သခင်ထံတော်မှ ထုတ်ပြန်ချမှတ်ထားတော်မူသော ကျမ်းမြတ်သာဖြစ်သည်။ ယင်းကျမ်းမြတ်သည် အစမှအဆုံးတိုင် ➤➤

اَللّٰهُ الَّذِىۡ رَفَعَ السَّمٰوٰتِ بِغَيۡرِ عَمَدٍ تَرَوۡنَهَا ثُمَّ اسۡتَوٰى عَلَى الۡعَرۡشِ وَسَخَّرَ الشَّمۡسَ وَالۡقَمَرَ‌ ؕ كُلٌّ يَّجۡرِىۡ لِاَجَلٍ مُّسَمًّى‌ ؕ يُدَبِّرُ الۡاَمۡرَ يُفَصِّلُ الۡاٰيٰتِ لَعَلَّكُمۡ بِلِقَآءِ رَبِّكُمۡ تُوۡقِنُوۡنَ ②

၂။ အလ္လာဟ်အရှင်မြတ်သည်ပင်လျှင် မိုးကောင်းကင်များကို အသင်တို့ မမြင်နိုင်ကြသော တိုင်များဖြင့် *မြင့်စွင့်စေတော်မူခဲ့သောအရှင်* [၁] ဖြစ်တော်မူပေသည်။ **(တစ်နည်း)** အသင်တို့တွေ့မြင်ကြသည့်အတိုင်း တိုင်များမပါဘဲ မြင့်စွင့်စေတော်မူခဲ့သောအရှင်ဖြစ်တော်မူပေသည်။ ထို့နောက် ထိုအရှင်မြတ်သည် 'အရ်ရှ်' ပလ္လင်တော်ထက်ဝယ် စံမြန်းတော်မူလေသည်။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် 'သူရိယ' နေကို*လည်းကောင်း၊ လ 'စန္ဒာ' ကိုလည်းကောင်း နာခံစေတော်မူလေသည်။* [၂]

(ထို နေနှင့်လသည်) သတ်မှတ်ထားသော အချိန်ကာလတွင် အသီးသီးသွားလာလျက်ပင် ရှိကြကုန်၏။ *ထိုအရှင်မြတ်သည် အရေးကိစ္စတို့ကို စီမံခန့်ခွဲတော်မူ၏။* [၃] သက်သေလက္ခဏာတော်များကိုအသေးစိတ် ရှင်းလင်းတော်မူ၏။ သို့မှသာလျှင် အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်နှင့် တွေ့ဆုံခြင်းကို ယုံကြည်ကြရာသတည်း။

---

➤➤ အမှန်ချည်းသာ ဖြစ်သည်။ ထိုကျမ်းမြတ်တွင် ဒွိဟသံသယဖြစ်ဖွယ်ရာဟူ၍ အလျှင်းမရှိ၊ ဆန့်ကျင်သော စကားဟူ၍လည်း အလျှင်းမပါ။ လိုက်နာကျင့်သုံးရန်သာရှိပေသည်။ သို့တစေလည်း လူသားတို့အနက် များစွာသော သူမိုက်များသည် မနာခံကြပေ။

မက္ကာမြို့သား မုရှ်ရစ်က်များက ဤကုရ်အာန်သည် မုဟမ္မဒ် လုပ်ကြံဖန်တီးထားသော ကျမ်းဖြစ်သည်ဟု မဟုတ်တမ်းတရမ်း ပြောဆိုကြသည့်အခါ ၎င်းတို့အား ချေပရန် ဤအာယတ်တော် ကျရောက်လာခဲ့ပေသည်။

(၁) ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ချမှတ်တော်မူသောအရှင်ကား၊ အခြားမဟုတ် မိုးကောင်းကင်များကို တိုင်မပါဘဲ မြင့်မားစွာ ဖန်ဆင်းထားတော်မူသော အလ္လာဟ်အရှင်မြတ်ပင်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့်လည်း ထိုအရှင်မြတ်၏ အနန္တတန်ခိုးတော်ကို ကောင်းစွာ သိနိုင်ပေသည်။

အများ မုဖတ်စ်စစ်ရ်များ၏ ယူဆချက်အရ ဤအာယတ်တော်တွင် မိုးကောင်းကင်များကို ဖန်ဆင်းတော်မူရာ၌ တိုင်များမပါရှိပေ။ အချို့ကမူ လူသားတို့မမြင်နိုင်သော တိုင်များပါရှိသည်ဟု ဖွင့်ဆိုကြသည်။ ဤသည့်ယူဆချက်များထောက်ရှု၍ ဤကျမ်းတွင်လည်း အဓိပ္ပါယ် နှစ်မျိုးနှစ်စား ပြန်ဆိုထားသည်။

(ترونها)၌ပါရှိသော (ها)'ဟာ' ဟူသော နာမ်စားသည် 'မိုးကောင်းကင်များ' ဘက်သို့ ➤➤

➤➤ လည်သည်ဟုလည်း ဆိုနိုင်သည်။ 'တိုင်များ' ဘက်သို့လည်သည်ဟုလည်း ဆိုနိုင်၏။ ဒုတိယ ယူဆချက်အရဆိုသော် တိုင်များမရှိသည်ကို ဆိုလိုသည်မဟုတ်၊ ထိုတိုင်များကို မမြင်နိုင်သည်ကို ဆိုလိုသည်။ (ဝါ) မိုးကောင်းကင်များတွင် လူသားတို့ မမြင်နိုင်သော တိုင်များ ရှိသည်ဟူ၏။

ဤယူဆချက်အရဆိုလျှင် ယခုခေတ် လောကဓာတ်ဆရာများ၏ ယူဆချက်အရ ဂြိုလ်များသည် အချင်းချင်း (Force of Attraction)ဖြင့် ဆွဲငင်ထားသည်။ ယင်းသည့်ဆွဲခြင်းသတ္တိများသည် ဤ အာယတ်တော်၏အာဘော်နှင့် မဆန့်ကျင်ပေ။ ဤအာယတ်တော်တွင် လူသားတို့ မမြင်စွမ်းသော တိုင်များဟူသော စကားတွင် အကျုံးဝင်ပေသည်။

(၂) ဂြိုလ်များသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြင့်သာလျှင် သွားလာလှုပ်ရှားနေကြသည်။ နေနှင့် လတို့သည်လည်း ထိုအရှင်မြတ်၏အမိန့်တော်ဖြင့် ထိုအရှင်မြတ် သတ်မှတ်ပြဋ္ဌာန်းထားတော်မူသည့် အတိုင်းအတာ နှင့်အညီ သွားလာလှုပ်ရှားနေကြပေသည်။ နေသည်မိမိ၏ ခရီးစဉ်ကို တစ်နှစ်တွင် ပြည့်စုံစေသည်။ လသည် မိမိ၏ခရီးစဉ်ကို တစ်လတွင် ပြည့်စုံစေသည်။ နေနှင့် လသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြင့် စနစ်တကျ သွားလာလှုပ်ရှားလျက် ကမ္ဘာ့အဝန်းကို အကျိုးပြုလျက်ရှိပေသည်။ ဤသည့် သွားလာလှုပ်ရှားမှုကား ကိယာမတ် တိုင်တည်ရှိနေပေမည်။

နေနှင့်လများသည် ကိုးကွယ်ရာမဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ သွားလာလှုပ်ရှား နေရသော အဖန်ဆင်းခံ၊ အစေခံများသာဖြစ်သည်။

(၃) အလ္လာဟ်အရှင်မြတ်သည် ဤမျှကြီးမားသော ဂြိုလ်များကို ဖန်ဆင်းတော်မူ၍ စနစ်တကျ စီမံခန့်ခွဲထားတော် မူသည်။ မိမိအလိုတော်အတိုင်း ခြယ်လှယ်တော်မူသည်။ ထိုသို့သော အရှင်မြတ်အဖို့ လူသားတို့အား သေပြီးနောက် ပြန်လည်ရှင်ထစေတော်မူခြင်းမှာ အသို့လျှင် ခဲယဉ်းနိုင်အံ့နည်း။ ထို့ပြင်တဝ အမှန်ချည်းသာ ပြောကြားသည့် တမန်တော်မြတ်ကလည်း ဤသို့ဖြစ်မည့်အကြောင်း ဟောကြားတော်မူခဲ့လေသည်။ ဤအကြောင်းမှာ မဖြစ်နိုင်သည့် အကြောင်းလည်းမဟုတ်၊ ဖြစ်နိုင်သည့် အကြောင်းသာ ဖြစ်သည်။ မုချလည်း ဖြစ်မည်။

ကြည့်-ထာနဝီ၊ မာဂျီဒီ။

ဆင်ခြင်အပ်သည့်အချက်တစ်ရပ်မှာ - ဤပစ္စက္ခ လူ့လောကတွင် တိုင်းပြည်အလိုက် အုပ်ချုပ်သော အစိုးရအဖွဲ့များ ရှိပေသည်။ ပါးနပ်သော၊ အခြေအနေအရပ်ရပ်ကို သိသော၊ အားအင်ရှိသော အစိုးရအဖွဲ့တစ်ဖွဲ့ သည် တိုင်းပြည်တွင် နိုင်ငံတော်အစိုးရအား တော်လှန်ပုန်ကန်နေသော သူပုန်များကို အမြဲတစေ လျစ်လျူပြု ထားမည် မဟုတ်ပေ။ ထို့အတူ နိုင်ငံတော်အစိုးရအပေါ်၌ သစ္စာရှိ၍ အစိုးရ၏ အမိန့်ပညတ်အရပ်ရပ်ကို ရိုသေစွာ လိုက်နာကျင့်သုံးလျက် အေးချမ်းစွာနေထိုင်လိုသော တိုင်းသူပြည်သားများအားလည်း ထိုသို့သော အစိုးရသည် အမြဲတစေ ပစ်ပယ်ထားမည်မဟုတ်ပေ။ သို့ဖြစ်ပေရာ စကြာဝဠာအဝန်းကို ဖန်ဆင်းတော်မူ၍ စီမံအုပ်ချုပ်နေတော်မူသော၊ အကြွင်းမဲ့ သိတော်မူသော၊ ဂုဏ်တော်အနန္တ၊ ဉာဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်သည် လူ့လောကတွင် မိမိအမိန့်တော် နာခံသူများနှင့် အမိန့်တော် မနာခံသူများကိုအား အမြဲတစေ အသို့လျှင် ဘေးမဲ့လွှတ်ထားတော်မူနိုင်အံ့နည်း။ အမိန့်တော်နာခံသူများသည်လည်း တစ်နေ့သော် အမိန့်တော်နာခံခြင်း၏ အကျိုးကို ခံစားကြရပေမည်။ အမိန့်တော်မနာခံသောသူများသည် တစ်နေ့သော် အမိန့်တော်မနာခံခြင်း၏ အပြစ်ကိုခံကြရပေမည်။ အမိန့်တော်နာခံသူနှင့် အမိန့်တော်မနာခံသူများသည် အကျိုးအားဖြင့် မတူနိုင်ကြပေ။ ခြားနားချက် ရှိရပေမည်။ ယခု ဤ ပစ္စက္ခ မျက်မှောက်တွင်မူ အဆိုပါ ခြားနားချက်ကို တိကျပြတ်သားစွာ မတွေ့ရှိရသေးပေ။ သို့ဖြစ်ပေရာ ဤ ပစ္စက္ခဘဝ၏ နောက်တွင်ဘဝတစ်ခု မုချ ➤➤

وَهُوَ الَّذِي مَدَّ الْأَرْضَ وَجَعَلَ فِيهَا رَوَاسِيَ وَأَنْهَارًا ۖ وَمِن كُلِّ الثَّمَرَاتِ جَعَلَ فِيهَا زَوْجَيْنِ اثْنَيْنِ ۖ يُغْشِي اللَّيْلَ النَّهَارَ ۚ إِنَّ فِي ذَٰلِكَ لَآيَاتٍ لِّقَوْمٍ يَتَفَكَّرُونَ ③

၃။ ထိုမှတစ်ပါးထိုအရှင်မြတ်သည်ပင်လျှင် *ပထဝီမြေကို ဖြန့်ခင်းတော်မူခဲ့သောအရှင်* [၁] ဖြစ်တော်မူပေသည်။ ၎င်းပြင် ထိုအရှင်မြတ်သည်ပင် ထိုပထဝီမြေ၌ တောင်များကိုလည်းကောင်း၊ ချောင်းမြစ်တို့ကိုလည်းကောင်း၊ *ပြုလုပ်ဖန်ဆင်းတော်မူခဲ့၏။* [၂]

ထို့ ပြင် ထိုအရှင်မြတ်သည် ယင်းပထဝီမြေ၌ သစ်သီးဝလံ အသီးသီးကို *နှစ်မျိုးစီ ဖန်ဆင်းတော်မူခဲ့၏။* [၃] ထိုအရှင်မြတ်သည် ညဥ့်ဖြင့် နေ့ကို ဖုံးအုပ်ခဲ့တော်မူ၏။ ဧကန်မလွဲ ဤသည်တို့၌ စဉ်းစား ဆင်ခြင်ကုန်သော သူတို့အဖို့ အမှန်ပင် သက်သေလက္ခဏာများသည် ရှိချေသတည်း။

➤➤ ရှိရပေဦးမည်။ ထိုဘဝ၌ လူသားအားလုံးတို့သည် အလ္လာဟ်အရှင်မြတ်၏ ကမ္ဘာ တရားရုံးတော်ရှေ့မှောက်သို့ ရောက်ရှိပြီး လူ့လောကတွင် မိမိတို့ပြုမူခဲ့ကြသည့် ကောင်းမှုမကောင်းမှု အစုစုတို့၏ ကျိုးပြစ်များကို မုချခံကြရပေမည်။

(၁) အလ္လာဟ်အရှင်မြတ်သည် ဤပထဝီမြေကို လူသားတို့ လွယ်လင့်တကူ သွားလာလှုပ်ရှား နေနိုင်ရန် အတွက် ဖြန့်ခင်းထားတော်မူသည်။

ပထဝီမြေကြီးကို ဖြန့်ခင်းထားတော်မူသည်ဟူသော အသုံးအနှုန်းသည် ဤကမ္ဘာမြေကြီး အလုံးဖြစ်သည် ဟူသောစကားနှင့် မဆန့်ကျင်ပေ။ ကုရ်အာန်ကျမ်းမြတ်သည် ကမ္ဘာမြေကြီး လုံးသည်၊ ပြားသည်ဟူသော ပြဿနာကို ဖြေရှင်းနေသည်မဟုတ်။ ကမ္ဘာမြေကြီးကို မည်သူဖန်ဆင်းသည်။ မည်သူစိုးပိုင်သည်။ ကမ္ဘာမြေကြီးဖြင့် မည်သို့သော အကျိုးများ ခံစားရသည်။ ဤကမ္ဘာမြေကြီးကို ဆင်ခြင်မြော်မြင်၍ ထိုကမ္ဘာမြေကြီး၏ အရှင်သခင်ကို သိရှိအပ်သည်များကိုသာ ညွှန်ပြနေခြင်းသာဖြစ်သည်။ ပထဝီမြေကြီး အလုံးဖြစ်သည်ကား မှန်၏။ မည်သူမျှ မငြင်းနိုင်ပေ။ သို့ရာတွင် လူသားတို့၏ သေးငယ်သော မျက်စိအမြင်တွင်မူ တွေ့မြင်နေရသမျှသော ပထဝီမြေကြီး၏အပိုင်းသည် ပြန့်လျက်ပင်ရှိသည်။

အေမာမ် ရာဇီသခင်၏ တဖ်စီရ်သည် ခုနစ်ရာစု၏ အစတွင် ဖွင့်ဆိုရေးသားခဲ့သော ကျမ်းဖြစ်သည်၊ ထိုကျမ်းကြီး စီရင်ရေးသားသည့် အချိန်မှာပင် ပထဝီမြေကြီး အလုံးကြီးဖြစ်သည်ကို လက်ခံခဲ့ပြီးဖြစ်သည်။

(၂) ပထဝီမြေ၌ ထုထည်ကြီးမားသော တောင်များနှင့် စီးတွေလျက်ရှိသော ချောင်းများ မြစ်များကိုလည်း အလ္လာဟ်အရှင်မြတ်သည်ပင် ဖန်ဆင်းတော်မူသည်။ တောင်များနှင့် မြစ်များ၏ အကျိုးကျေးဇူးများကား များပြားလှ၏။ ကမ္ဘာအရပ်ရပ်တွင် ကောက်ပဲသီးနှံများ စိုက်ပျိုးနိုင်ခြင်း၊ စိမ်းစိုသာယာနေခြင်းသည် မြစ်များ၏ အကျိုးပင်၊ မြစ်များ စီးတွေ နိုင်ခြင်းမှာလည်း တောင်များ၏ အကျိုးပင်၊ ထို့ပြင်တဝ တောင်များသည် သတ္တုအမျိုးမျိုး၏ ဘဏ္ဍာတော် တိုက်ကြီးများလည်း ဖြစ်သည်။ တောင်များ၊ မြစ်များ၏ အကျိုးကား များပြားလှပေသည်။ တောင် အမျိုးမျိုး၊ မြစ် အစားစား ရှိသည့်အကြောင်း၊ တောင်များ မြစ်များ၏ ➤➤

၄။ ၎င်းပြင် ပထဝီမြေ၌ တစ်ခုတည်းသော ရေကို သွင်းပေးခြင်းခံရသော နီးကပ်စွာရှိသောမြေကွက်များသည်လည်းကောင်း၊ စပျစ်ခြံများသည်လည်းကောင်း၊ လယ်ယာများသည်လည်းကောင်း၊ အမြစ်တစ်ခုတည်းမှ တစ်ပင်မက ပေါက်ရောက်သော စွန်ပလွံပင်များသည်လည်းကောင်း၊ အမြစ်တစ်ခုမှ တစ်ပင်စီပေါက်ရောက်သော စွန်ပလွံပင်များသည်လည်းကောင်း၊ ရှိသည်။ သို့ပါလျက် ငါအရှင်မြတ်သည် အသီးများတွင် ၎င်းတို့အနက် *အချို့ကို အချို့ထက် ထူးကဲစေတော်မူ၏။* ^၁ ဧကန်အမှန် ဤသူတို့၌ နားလည်ကြသူတို့အဖို့ သက်သေလက္ခဏာများသည် အမှန်ပင် ရှိကြပေသတည်း။

وَفِى الۡاَرۡضِ قِطَعٌ مُّتَجٰوِرٰتٌ وَّجَنّٰتٌ مِّنۡ اَعۡنَابٍ وَّزَرۡعٌ وَّنَخِيۡلٌ صِنۡوَانٌ وَّغَيۡرُ صِنۡوَانٍ يُّسۡقٰى بِمَآءٍ وَّاحِدٍ وَنُفَضِّلُ بَعۡضَهَا عَلٰى بَعۡضٍ فِى الۡاُكُلِ ؕ اِنَّ فِىۡ ذٰلِكَ لَاٰيٰتٍ لِّقَوۡمٍ يَّعۡقِلُوۡنَ ④

➤➤ အကျိုးများကိုအလ်ဂျဝါဟစ်ရ်ကျမ်း အ - ၇။ စ - (၈၁-၈၄) တွင် အကျယ်ဖွင့်ဆိုရေးသားထားသည်။ ကျမ်းလေးမည်စိုး၍ မရေးပြီ။

② ပထဝီ မြေမျက်နှာပြင်ပေါ်၌ အံ့မဆုံးသော သီးနှံမျိုးစုံကိုလည်း အလ္လာဟ် အရှင်မြတ်သည်ပင် ဖန်ဆင်းထားတော်မူသည်။ သီးနှံများမှာလည်း တစ်မျိုးတစ်စားတည်းမဟုတ်၊ အကြီး၊ အငယ်၊ အချိုအချဉ်၊ အပူအအေး၊ အဖြူအနက်၊ စသည်ဖြင့် အရွယ်အမျိုးမျိုး၊ အရသာအစားစား၊ အဆင်းအဖုံဖုံဖြစ်သည်။ ထို့ပြင်တဝ သက်ရှိသတ္တဝါများကဲ့သို့ ယင်းကောက်ပဲသီးနှံများတွင်လည်း ဖို၊မ အသီးသီးရှိပေသည်။

ကြည့်- ကုရ်အာန် - ၁၃း ၃။ ၅၁း ၄၉။ ၅၃း ၄၅။ ၅၅း ၅၂။ ၇၅း ၃၉။

အလ္လာဟ်အရှင်မြတ်သည် မြေမှာပေါက်ရောက်သောသီးနှံများတွင် လူသားတို့တွင်လည်းကောင်း၊ လူသားတို့ မသိကြသေးသောအရာများတွင်လည်းကောင်း အရာခပ်သိမ်းတို့တွင် အဖိုနှင့်အမကို အံ့မဆုံးဖွယ် ဖန်ဆင်းထားတော်မူသည်။ ကြည့်-ကုရ်အာန်-၁၃း၃၊ ၅၁း၄၉။ ၈၅း၅၂။

① ပထဝီမြေကြီးတွင် မြေကွက်များသည် အချင်းချင်းဆက်စပ်လျက်ရှိ၏။ တစ်ဆက်တည်းဖြစ်၏။ တစ်သားတည်းဖြစ်၏။ သို့တစေလည်း အချို့မြေသည် မြေဩဇာကောင်း၏။ အချို့ ညံ့၏။ အချို့မြေသည် ဖြူ၏။ အချို့ နီ၏။ အချို့ ဝါ၏။ အချို့ မည်း၏။ အချို့ မာ၏။ အချို့ ပျော့၏။ အချို့၌ သဲဆန်ရှိ၏။ အချို့ ထူပျစ်၏။ အချို့ပွ၏။ ထိုသည့်မြေများသည် တစ်မျိုးတည်းသော ရေကိုသောက်၏။ တစ်ခုတည်းသော နေ၏ အပူရှိန်ကို ခံစား၏။ တစ်ခုတည်းသော လေကိုရှူရှိုက်၏။ သို့တစေလည်း ထိုသည့်မြေများမှ ပေါက်ရောက်သော အသီးအနှံများ၏ အရသာ အရောင်အဆင်း၊ အနံ့၊ အရွယ်များသည် အချင်းချင်းမတူ၊ အမျိုးမျိုး အစားစား ကွဲပြားခြားနားလျက်ရှိပေသည်။ နှစ်စဉ်နှင့်အမျှ ပေါက်ရောက်သီးပွင့်လျက်ရှိကြပေသည်။ ဤသည်တို့ကို စဉ်းစား ဆင်ခြင်ပါက အနန္တတန်ခိုးတော်နှင့်ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်ရှိတော်မူကြောင်း၊ ထိုအရှင်မြတ်သည် မိမိ၏အနန္တတန်ခိုးတော်ဖြင့် အံ့ဖွယ်သရဲပြု စီရင်ထားတော်မူကြောင်း။

وَاِنۡ تَعۡجَبۡ فَعَجَبٌ قَوۡلُهُمۡ ءَاِذَا كُنَّا تُرٰبًا ءَاِنَّا لَفِىۡ خَلۡقٍ جَدِيۡدٍ ؕ اُولٰٓـئِكَ الَّذِيۡنَ كَفَرُوۡا بِرَبِّهِمۡ‌ۚ وَاُولٰٓـئِكَ الۡاَغۡلٰلُ فِىۡۤ اَعۡنَاقِهِمۡ‌ۚ وَاُولٰٓـئِكَ اَصۡحٰبُ النَّارِ‌ۚ هُمۡ فِيۡهَا خٰلِدُوۡنَ ۝٥

၅။ ထိုမှတပါး အကယ်၍ အသင်သည် အံ့သြသည်ရှိသော် ကျွန်ုပ်တို့သည် (သေပြီးနောက်) ပကတိမြေကြီး ဖြစ်သွားခဲ့ကြသောအခါ ကျွန်ုပ်တို့သည် အသစ်ပြန်၍ဖန်ဆင်းခြင်းကို ခံကြရမည်လောဟူသော ငင်းတို့၏*ပြောဆိုချက်သည်ကား(သာ၍)ပင် အံ့သြဖွယ်ဖြစ်ပေသည်။* [၁] ဤသူများပင် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အား မယုံမကြည်သွေဖည်ငြင်းပယ်ကုန်သော သူများတည်း၊ ငင်းပြင်ဤသူများပင်၊ ငင်းတို့၏လည်ပင်းများ၌ လည်ကွင်းများရှိအံ့၊ ထိုမှတပါး ဤသူတို့သည်ပင်လျှင် ငရဲသားများ ဖြစ်ကြကုန်သည်။ ငင်းတို့သည် ထိုငရဲမီး၌ ထာဝစဉ် နေထိုင်ကြမည့်သူများ ဖြစ်ကြပေသတည်း။

وَيَسۡتَعۡجِلُوۡنَكَ بِالسَّيِّئَةِ قَبۡلَ الۡحَسَنَةِ وَقَدۡ خَلَتۡ مِنۡ قَبۡلِهِمُ الۡمَثُلٰتُ‌ ؕ وَاِنَّ

၆။ စင်စစ်သော်ကား ငင်းတို့သည် အသင့်ထံ၌ ဘေးရန်ကင်းငြိမ်းခြင်းထက် အလျှင် ဘေးအန္တရာယ်ကို အသင့်ထံ၌*အလျှင်စလိုတောင်းဆွဲကြကုန်၏။* [၂] အမှန် စင်စစ်သော်ကား ပြစ်ဒဏ် ခတ်မှုများသည် ငင်းတို့အလျှင် ရှိခဲ့ပြီး ဖြစ်ခဲ့ပေသည်။

---

(၁) ကာဖိရ်၊ မုရှ်ရစ်က်များက 'ငါတို့သည် မြေကြီးဖြစ်ပြီး နောက်တစ်ဖန် ပြန်လည်ရှင်ထကြရဦးမည်လော'ဟုဆိုကာ လူသားတို့ သေပြီးနောက် ပြန်လည်ရှင်ပြန်ထရမည့်အရေးကို ငြင်းဆိုကြသည်။ ငင်းတို့၏စကားသည် အလွန်အံ့ဖွယ်ပင်။ အဘယ်ကြောင့်ဆိုသော် မရှိသော အရာတစ်ခုကို စတင်ပြုလုပ်ခြင်းသည် အခက်ဆုံးဖြစ်သည်။ ရှိပြီးအရာတစ်ခုကို ပြန်လည်ပြုလုပ်ခြင်းသည် လွယ်ကူပေသည်။ ဤကား အထင်အရှားပင်၊ အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို လုံးဝမရှိရာမှ စတင်ဖန်ဆင်းတော်မူခဲ့သည်။ လူသားတို့ကိုလည်း ထိုအရှင်မြတ်သည်ပင် စတင်ဖန်ဆင်းတော် မူခဲ့ပေသည်။ ယခု ထိုလူသားတို့အား သေပြီးနောက် ပြန်လည်ရှင်ထစေရန် အရေးမှာ အလ္လာဟ် အရှင်မြတ်အဖို့ အသို့လျှင် ခဲယဉ်းနိုင်အံ့နည်း။

သေပြီးနောက် ပြန်လည် ရှင်ထရမည့်အရေးကို ငြင်းဆိုကာ ကာဖိရ်၊ မုရှ်ရစ်က်တို့သည် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးအာဏာတော်ကို ငြင်းဆိုပုန်ကန်သော သူပုန်များသာ ဖြစ်ကြပေသည်။ ယင်းသို့သော သူပုန်များသည် နောက်ဆုံးတွင် သူပုန်တို့၏ သွားရာ လမ်းစဉ်အတိုင်း လည်ပင်းတွင် လည်ကွင်းများ စွပ်၍ ခြေလက်တို့တွင် ခြေကျဉ်း လက်ထိပ်များခတ်ကာ ဂျဟန္နမ်တည်းဟူသော ထာဝရ အကျဉ်းထောင်သို့ ထာဝရလားကြရမည်သာဖြစ်သတည်း။

رَبَّكَ لَذُوْ مَغْفِرَةٍ لِّلنَّاسِ عَلٰى ظُلْمِهِمْ ۚ وَاِنَّ رَبَّكَ لَشَدِيْدُ الْعِقَابِ ⑥

၎င်းပြင် မလွဲဧကန် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် လူတို့နှင့် ပတ်သက်၍ ၎င်းတို့သည် မတရားမှုကို ကျူးလွန်သူများဖြစ်ကြပါလျက် လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူသောအရှင်မြတ်လည်း ဖြစ်တော်မူပေသည်။ ထိုမှတပါး အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ပြင်းထန်စွာ အပြစ်ပေးတော်မူသော အရှင်မြတ်လည်း အမှန်ပင် ဖြစ်တော်မူပေသတည်း။

---

(၂) ကာဖိရ်၊ မုရှ်ရစ်က်တို့သည် အမှန်တရားကိုလက်ခံ၍ နှစ်ဘဝ၏ ကောင်းစားရေးကို ရှေ့ရှုသင့်ကြပေသည်။ ယခုမူ သုခချမ်းသာ၏ သက်တမ်းမကုန်ဆုံးသေးမီ အလျင်ပင် ဘေးအန္တရာယ်များကို အလျင်စလို တောင်းဆိုနေကြသည်။ မိုက်တွင်းကား နက်ပါဘိ။

ကာဖိရ်၊ မုရှ်ရစ်က်များထံသို့ ပြစ်ဒဏ်တော်ဆိုက်ရောက်မည်မှာ အနေးနှင့်အမြန် အမှန်ပင်၊ ပြစ်ဒဏ်တော်ဆိုက်ရောက်ရာတွင် အနည်းငယ် ကြန့်ကြာနေသည့်အတွက် ပြစ်ဒဏ်တော် အလျင်းဆိုက် ရောက်တော့မည် မဟုတ်ဟူ၍ မထင်မှတ်သင့်ပေ။ ၎င်းတို့အလျင် အတိတ်ခေတ်များတွင် ၎င်းတို့ကဲ့သို့သော ကာဖိရ်၊ မုရှ်ရစ်က်များအား ပြစ်ဒဏ်တော်တပ်ရိုက်တော်မူခဲ့သည့် နမူနာများ၊ ဖြစ်ရပ် များရှိခဲ့ချေပြီ။ ၎င်းတို့ထံသို့လည်း ပြစ်ဒဏ်တော်သည် အနေးနှင့်အမြန် ဆိုက်ရောက်မည်သာဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် အလွန် ချမ်းသာခွင့်ပေးတော်မူသောအရှင် ဖြစ်တော်မူသည်။ အပြစ်ရှိသူတို့အား ရုတ်တရက်ချက်ချင်း ပြစ်ဒဏ်ခတ်တော်မူလေ့ မရှိပေ။ ပြစ်မှုကျူးလွန်သူတို့သည် ပြစ်မှုကျူးလွန်ရာတွင် အလွန်အကျွံ ဖြစ်လာကြသောအခါ ပြင်းထန်စွာ ပြစ်ဒဏ်ပေးတော်မူလေ့ရှိသည်။ သို့ဖြစ်ရာ ကာဖိရ်၊ မုရှ်ရစ်က်တို့သည် မိမိတို့အား ရုတ်တရက် ပြစ်ဒဏ်ခတ်တော်မမူသည်ကို အကြောင်းပြု၍ ကုဖစ်ရ်၊ ရှစ်ရ်က် အမှုများတွင် ဆက်လက်ပြီး နစ်မွန်း၍ မနေသင့်ကြပေ။ မိမိတို့ထံ ပြစ်ဒဏ်တော် အလျင်းဆိုက်ရောက်မည် မဟုတ်ဟူ၍လည်း အထင်မှားအမြင်မှား ဖြစ်မနေသင့်ကြပေ။

လူသားတို့သည် အလ္လာဟ်အရှင်မြတ်၏ လွတ်ငြိမ်းချမ်းသာခွင့်ကိုလည်း မျှော်လင့်ချက်ထားကြရမည်။ ထိုအရှင်မြတ်၏ ပြစ်ဒဏ်တော်ကိုလည်း ကြောက်ရွံ့ကြရမည်။ အီမာန်သည် ကြောက်ရွံ့ခြင်းနှင့် မျှော်လင့်ခြင်း နှစ်ခု၏စပ်ကြားတွင် တည်ရှိနေပေသည်။

တမန်တော်မြတ်ကလည်း ဤအတိုင်းပင် မိန့်ကြားတော်မူခဲ့ပေသည်။ ကုရ်အာန်ကျမ်းမြတ် (၁၅:၄၉-၅၀) တွင်လည်း 'မုချ ငါအရှင်မြတ် သည်သာလျှင် လွတ်ငြိမ်းချမ်းသာခွင့် အပေးဆုံး၊ အသနား အကြင်နာဆုံး အရှင်ဖြစ်တော်မူသည်။ ငါအရှင်မြတ်၏ ပြစ်ဒဏ်တော်သည် အပြင်းထန်ဆုံးလည်းဖြစ်သည်ကို အသင်သည် ငါ၏ကျွန်များအား ပြောကြားလိုက်ပါလေ'ဟု အတိအလင်း မိန့်ဆိုထားတော်မူသည်။

وَيَقُولُ الَّذِينَ كَفَرُوا لَوْلَا أُنْزِلَ عَلَيْهِ آيَةٌ مِّن رَّبِّهِ إِنَّمَا أَنتَ مُنذِرٌ وَلِكُلِّ قَوْمٍ هَادٍ ۝٧

၇။ ၎င်းပြင် မယုံမကြည် သွေဖည်ငြင်းပယ်ကုန်သောသူတို့သည် ထို(နဗီတမန်တော်မုဟမ္မဒ်)၏ အပေါ်၌ ၎င်းအား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ တန်ခိုးပြာဋိဟာတစ်ရပ်ရပ်သည် အဘယ်ကြောင့် ကျရောက်ခဲ့သည် မရှိပါသနည်း၊ ဟူ၍လည်း ပြောဆိုကြသေး၏။ (စင်စစ်မှာမူကား) အသင်သည် သတိပေး နှိုးဆော်သူတစ်ဦးမျှသာ ဖြစ်ပေသည်။ ထိုနည်းတူစွာ လူမျိုးတိုင်းအဖို့ တရားလမ်းမှန်ကို ညွှန်ကြားပြသသူသည် ရှိချေသတည်း။[၁]

---

(၁) ကာဖိရ်၊ မုရှ်ရစ်က်များက ၎င်းတို့တောင်းဆိုသော တန်ခိုးပြာဋိဟာသည် (တမန်တော်မြတ်)မုဟမ္မဒ် အပေါ်သို့ အဘယ်ကြောင့် မကျရောက်ခဲ့သနည်း။ ကျရောက်လာခဲ့သည်ရှိသော် ၎င်းတို့သည် မလွဲမရှောင် သာ အီမာန်ယုံကြည်ရမည်သာ ဖြစ်သည်ဟုဆိုကြ၏။ ယင်းကာဖိရ်၊ မုရှ်ရစ်က်တို့အား ဖြေကြားထားတော် မူသည်မှာ - တန်ခိုးပြာဋိဟာများကို ချပေးခြင်းကိစ္စသည် တမန်တော်မြတ်၏ လက်တွင်း၌ရှိသော ကိစ္စ မဟုတ်ပေ။ ယင်းကိစ္စသည် အလ္လာဟ် အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ ထိုအရှင်မြတ်သည် မိမိ၏ တမန်တော်များအပေါ်၌ တမန်တော်များ ဟုတ်မှန်ကြောင်းကို အထောက်အထား ထင်ရှားပြရန်အတွက် အခြေအနေအရ လျော်ကန်သင့်မြတ်သော တန်ခိုးပြာဋိဟာများကို ချပေးတော်မူသည်။ ကာဖိရ်၊ မုရှ်ရစ်က်တို့ တောင်းဆိုသော တန်ခိုးပြာဋိဟာများကို ချပေးတော်မူသည်မဟုတ်ပေ။ တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်) တမန်တော်ဖြစ်ကြောင်းနှင့်စပ်လျဉ်း၍ ကမ္ဘာတသက်တည်ရှိမည့် ကုရ်အာန်ကျမ်းမြတ်ကို ထာဝရ တန်ခိုးပြာဋိဟာအဖြစ် ချပေးထားတော်မူပြီးဖြစ်သည်။ ထို့နောက်တွင်သော် အခြားအထွေအထူး တန်ခိုးပြာဋိဟာ ချပေးတော်မူရန်ပင် မလိုတော့ပေ။ တမန်တော်မြတ်၏တာဝန်မှာ တရားဒေသနာတော်များကို ဟောညွှန်ပြရန်နှင့် မကောင်းမှုများ ကျူးလွန်ခြင်းဖြင့် ဖြစ်ပေါ်လာမည့် ဘေးအန္တရာယ်များကို သတိပေး နှိုးဆော်ရန်သာဖြစ်သည်။ လူမျိုး အသီးသီးတို့၌ တရားဒေသနာတော်များ ဟောညွှန်ပြရန်နှင့် သတိပေး နှိုးဆော်ရန် တမန်တော်များ အသီးသီး ပွင့်ခဲ့ကြလေပြီ၊ ထိုထိုသော တမန်တော်များအနက် မည်သည့် တမန်တော်ကမျှ ကာဖိရ်၊ မုရှ်ရစ်က်တို့ တောင်းဆိုကြသော တန်ခိုးပြာဋိဟာများကို ပြသကြပါမည်ဟု မပြောဆိုခဲ့ကြပေ။ ထိုထိုသော တမန်တော်များ၏တာဝန်မှာ တရားဓမ္မဟောကြားရန်နှင့် သတိပေးနှိုးဆော်ရန် ဖြစ်သကဲ့သို့ တမန်တော်မြတ်၏တာဝန်မှာလည်း ထိုသည့် တရားဓမ္မဟောကြားခြင်းနှင့် သတိပေးနှိုးဆော်ခြင်းသာ ဖြစ်ပေသည်။ ခြားနားချက်တစ်ရပ်မှာ ပွင့်လေသမျှသော တမန်တော်များတွင် သီးသန့်လူမျိုးစုများအတွက်သာ ပွင့်လာခဲ့ကြသည်။ တမန်တော်မြတ်မှာမူကား ကမ္ဘာအဝန်းအတွက် ပွင့်လာတော်မူခဲ့လေသည်။ ထို့အတွက်ကြောင့် လည်း ကမ္ဘာတစ်သက် တည်ရှိမည့် ကုရ်အာန် ကျမ်းမြတ်ကို ထာဝရ တန်ခိုး ပြာဋိဟာအဖြစ် ချပေး ထားတော်မူခြင်းဖြစ်သည်။

اللَّهُ يَعْلَمُ مَا تَحْمِلُ كُلُّ أُنثَىٰ وَمَا تَغِيضُ الْأَرْحَامُ وَمَا تَزْدَادُ ۖ وَكُلُّ شَيْءٍ عِندَهُ بِمِقْدَارٍ ﴿٨﴾

၈။ အလ္လာဟ်အရှင်မြတ်သည် အမိတိုင်း မည်
သည့်အရာကို ကိုယ်ဝန်ဆောင်လျက်ရှိသည်ကိုလည်း
ကောင်း၊ သားအိမ်များသည် မည်သည့်အရာကို
ချွတ်ယွင်းစေသည်ကို လည်းကောင်း၊ ထို့အတူ
မည်သည့်အရာကို ပိုမိုစေသည်ကိုလည်းကောင်း
*သိရှိတော်မူ၏။* [၁] **(တစ်နည်း)** အလ္လာဟ်အရှင်မြတ်
သည် မိန်းမတစ်ဦးတစ်ယောက်၏ဝမ်းတွင်း လွယ်
ထားသည်ကိုလည်းကောင်း၊ (မိန်းမများ၏)သားအိမ်
များတွင် လျော့သည် ပိုသည်တို့ကိုလည်းကောင်း၊
သိရှိတော်မူ၏။ (စင်စစ်သော်ကား) အရာခပ်သိမ်း
တို့သည် ထိုအရှင်မြတ်အထံတော်၌ ချင့်ချိန်တိုင်းတာ
*သတ်မှတ်ပြီး ဖြစ်ပေသတည်း။* [၂]

عَالِمُ الْغَيْبِ وَالشَّهَادَةِ الْكَبِيرُ الْمُتَعَالِ ﴿٩﴾

၉။ ထိုအရှင်မြတ်သည် (သတ္တဝါအပေါင်း) မမြင်
နိုင်သောအရာများကိုလည်းကောင်း၊ မြင်နိုင်သော
အရာများကိုလည်းကောင်း၊ **(တစ်နည်း)** လျှို့ဝှက်
နေသောအရာများကိုလည်းကောင်း၊ ထင်ရှား၍နေသော
အရာများကိုလည်းကောင်း၊ သိတော်မူသောအရှင်၊
(အလုံးစုံတို့ထက်) ကြီးကဲတော်မူသောအရှင်၊ မြင့်
မြတ်တော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

---

(၁) အလ္လာဟ်အရှင်မြတ်သည် အလုံးစုံကိုသိတော်မူသော ဉာဏ်တော်ရှင်ဖြစ်တော်မူသည်။ အမိတို့၏ သားအိမ်တွင်း၌ရှိသော ကလေးသည် မည်သို့မည်ပုံရှိသည်၊ ယောကျ်ားဖြစ်သည်၊ မိန်းမဖြစ်သည်။ တစ်ယောက်ဖြစ်သည်၊ တစ်ယောက်ထက်ပိုသည်။ နှေးမည်၊ မြန်မည်။ ပြည့်စုံသည်၊ မပြည့်စုံသည်။ ကောင်းသည်၊ မကောင်းသည်။ အဆင်းလှသည်၊ ဆိုးသည်။ အကြောင်း ကောင်းသည်၊ ဆိုးသည်။ အသက်ရှည်မည်၊ တိုမည်။ ကိုယ်ဝန်ဆောင်နှင့်စပ်လျဉ်းသည့် အကြောင်းတရားများ၊ လျှို့ဝှက်ချက်များ၊ အခြေအနေများ၊ အချိန်ပိုင်းများ အားလုံးတို့ကို အကြွင်းမဲ့ သိတော်မူသည်။ ကြည့်-ထာနဝီ၊

(၂) အလ္လာဟ်အရှင်မြတ်သည် အလုံးစုံကိုသိတော်မူသော ဉာဏ်တော်ရှင်ဖြစ်တော်မူသည့်အလျောက် အရာခပ်သိမ်းကုန်တို့ကို အခါခပ်သိမ်း အခြေအနေတိုင်းတွင် ၎င်းတို့၏အရည်အချင်းနှင့် လျော်ညီစွာ သတ်မှတ်ချက်အတိုင်းအတာနှင့် ထားရှိတော်မူသည်။ ထိုနည်းတူ နဗီတမန်တော်များအပေါ်သို့ တန်ခိုးပြဋ္ဌိဟာများ ချပေးတော်မူရာတွင်လည်း သက်ဆိုင်ရာအမျိုးသားတို့၏ အခြေအနေအရည်အချင်းများနှင့် လျော်ကန်သင့်မြတ်သော 

سَوَآءٌ مِّنكُم مَّنْ أَسَرَّ ٱلْقَوْلَ
وَمَن جَهَرَ بِهِۦ وَمَنْ هُوَ
مُسْتَخْفٍۭ بِٱلَّيْلِ وَسَارِبٌۢ
بِٱلنَّهَارِ ﴿١٠﴾

၁၀။ အသင်တို့အနက် စကားကို လျှို့ဝှက်သောသူသည်လည်းကောင်း၊ ထုတ်ဖော်ပြောဆိုသူသည်လည်းကောင်း၊ ညဥ့်(၏အမှောင်)၌ ပုန်းကွယ်၍နေသူသည်လည်းကောင်း၊ နေ့(၏အလင်းရောင်)၌ (အထင်အရှား) သွားလာသောသူသည်လည်းကောင်း၊ (ထိုအရှင်မြတ်၏အသိဉာဏ်တော်တွင်) အတူတူပင် ဖြစ်ကုန်သတည်း။

لَهُۥ مُعَقِّبَٰتٌ مِّنۢ بَيْنِ يَدَيْهِ
وَمِنْ خَلْفِهِۦ يَحْفَظُونَهُۥ
مِنْ أَمْرِ ٱللَّهِ ۗ إِنَّ ٱللَّهَ لَا
يُغَيِّرُ مَا بِقَوْمٍ حَتَّىٰ
يُغَيِّرُوا۟ مَا بِأَنفُسِهِمْ ۗ
وَإِذَآ أَرَادَ ٱللَّهُ بِقَوْمٍ سُوٓءًا

၁၁။ ထို(လူသား)အသီးသီးတို့တွင် ယင်းအသီးသီးတို့၏ရှေ့၌လည်းကောင်း၊ နောက်၌လည်းကောင်း အလှည့်ကျလာသော ကောင်းကင် တမန်များသည် ရှိကြကုန်၏။ ယင်းကောင်းကင်တမန်များသည် ယင်း(လူသား)အသီးသီးတို့အား *အလ္လာဟ်အရှင်မြတ်၏အမိန့်တော်အရစောင့်ရှောက်ကြကုန်၏။* [၁] အမှန်သော်ကား အရှင်မြတ်သည် လူမျိုးတစ်မျိုး၏ (ကောင်းမွန်သော) အခြေအနေကို ၎င်းတို့ကိုယ်တိုင် မိမိတို့၏အခြေအနေကို *မပြောင်းလဲသမျှကာလပတ်လုံး ပြောင်းလဲတော်မူသည်မဟုတ်ပေ။* [၂]

---

➢➢ တန်ခိုးပြဋ္ဌိဟာများကိုသာ ချပေးတော်မူသည်။ ထိုအရှင်မြတ်ထံတော်၌ အရာခပ်သိမ်းတို့သည် သတ်မှတ်ပြီး အတိုင်းအတာနှင့်သာ ဖြစ်ပေသည်။

(၁) လူတိုင်း၌ အလ္လာဟ်အရှင်မြတ်၏ ကောင်းကင်တမန်များရှိကြပေသည်။ ထိုကောင်းကင်တမန်များအနက် အချို့သည် လူသား၏ အပြုအမူများကို အမြဲတစေ ရေးမှတ်ကြသည်။ အချို့ ကောင်းကင်တမန်များသည် လူသားထံမှ ထိုအရှင်မြတ်၏ ကာကွယ်စေတော်မူလိုသည့် ဘေးအန္တရာယ်များကို ကာကွယ်ပေးကြပေသည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် ဤစကြာဝဠာ တွင် တစ်စုံတစ်ရာကို ဖန်ဆင်းတော်မူရာ၌ ထိုအရာနှင့် စပ်လျဉ်း၍ လူသားတို့ တွေ့မြင်နိုင်သောအကြောင်းတရားများကို ဖန်ဆင်းထားတော်မူသကဲ့သို့ လူသားတို့ မတွေ့မြင်နိုင်သော အကြောင်းတရားများကိုလည်း ဖန်ဆင်း၍ ထားတော်မူပေသည်။ ထိုသည့် အကြောင်းတရားများဖြင့်ပင် ထိုအရှင်မြတ်၏ အလိုတော်များသည် အတည်ဖြစ်ပေသည်။

(၂) အလ္လာဟ်အရှင်မြတ်သည် ဤအာယတ်တော်တွင် လူမျိုးတို့၏ တိုးတက်ခြင်း၊ ဆုတ်ယုတ်ခြင်းတို့၏ အကြောင်းတရားကို မိန့်ဆိုထားတော်မူသည်။ အလ္လာဟ်အရှင်မြတ်သည် မဟာကရုဏာ တော်ရှင်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် လူမျိုးအသီးသီးတို့အား မိမိ၏ကရုဏာတော်ဖြင့် ကျေးဇူးပြုတော်မူသည်သာဖြစ်၏။ ➢➢

فَلَا مَرَدَّ لَهٗ ۚ وَمَا لَهُمْ مِّنْ دُوْنِهٖ مِنْ وَّالٍ ⑪

စင်စစ်မှာမူကား အလ္လာဟ် အရှင်မြတ်သည် လူမျိုးတစ်မျိုး၏အပေါ်၌ ဘေးဒုက္ခ ဆိုက်ရောက်စေရန် ရည်ရွယ်တော်မူခဲ့သည်ရှိသော် (မည်သူတစ်ဦးတစ်ယောက်မျှပင်) ထိုဘေးဒုက္ခကို *တွန်းလှန်နိုင်ခြင်းမရှိချေ။* [၁] ထိုမှတပါး ၎င်းတို့အား ထိုအရှင်မြတ်အပြင် ကာကွယ် စောင့်ရှောက်မည့်သူ ဟူ၍လည်း တစ်ဦးတစ်ယောက်မျှ မရှိပေ။

هُوَ الَّذِيْ يُرِيْكُمُ الْبَرْقَ خَوْفًا وَّطَمَعًا وَّيُنْشِئُ السَّحَابَ الثِّقَالَ ⑫

၁၂။ ထိုအရှင်မြတ်သည်ပင်လျှင် အသင်တို့အား လျှပ်စစ်ပြက်ခြင်းကို ကြောက်မက်ဖွယ်ရာအဖြစ်လည်းကောင်း၊ မျှော်လင့်ဖွယ်ရာအဖြစ်လည်းကောင်း *ပြတော်မူသောအရှင် ဖြစ်တော်မူသည်။* [၂] ထိုမှတပါး ထိုအရှင်မြတ်သည်ပင်လျှင် လေးလံစွာသော မိုးတိမ်များကို ဖန်ဆင်း (မြင့်)မြှောက်တော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

---

➤➤ လူမျိုးတစ်မျိုးတွင် ပြုထားတော်မူသည့် ကျေးဇူးတော်ကိုလည်း ယင်းလူမျိုးက မိမိတို့ကိုယ်တိုင် မိမိတို့၏ ဘဝအခြေအနေကို မပြောင်းလဲသမျှ ကာလပတ်လုံး ထိုအရှင်မြတ်သည် ပြောင်းလဲတော်မူသည်မရှိပေ။ အပြောင်းအလဲများသည် လူသားတို့ဘက်မှပင် စတင်ဖြစ်ပေါ်၏။ တနည်းအားဖြင့် ကောင်းသောဘဝအခြေအနေ ဖန်တီးမှုနှင့် မကောင်းသော ဘဝအခြေအနေများသည် လူသားတို့အပေါ်၌သာ တည်ရှိပေသည်။ သို့ဖြစ်ပေရာ လူမျိုးတစ်မျိုးသည် ကောင်းသောဘဝ အခြေအနေတွင် ရပ်တည်နေလိုက ထိုသည့်ကောင်းသောအခြေအနေနှင့် ကိုက်ညီအောင် မိမိတို့၏ ဘဝအခြေအနေကို ဖန်တီးထားကြရမည်သာဖြစ်သည်။ သို့မဟုတ်ပါမူ ယင်းသည့် လူမျိုးသည် မိမိတို့၏ လက်ရှိအခြေဆိုး အနေဆိုးဘဝမှ ဘယ်သောအခါမျှ လွတ်မြောက်နိုင်မည်မဟုတ်၊ ထိုလူမျိုးသည် မိမိတို့၏ ဘဝအခြေအနေကို မိမိတို့ကိုယ်တိုင် ကာယကံမြောက် မပြောင်းလဲသမျှ ကာလပတ်လုံး အလ္လာဟ်အရှင်မြတ်ကလည်း ၎င်းတို့ အခြေအနေကို ပြောင်းလဲပေးတော်မူမည်မဟုတ်ပေ။

(၁) လူမျိုးတစ်မျိုးသည် မိမိတို့၏ လက်ရှိမကောင်းသော ဘဝအခြေအနေကို မပြောင်းလဲသည့်အပြင် ပိုမိုဆိုးမိုက်လာကြသောအခါ အလ္လာဟ်အရှင်မြတ်သည် ထိုသို့သောလူမျိုးအား ပြစ်ဒဏ်ရှိသည့်အလျောက် ပြစ်ဒဏ်ခတ်တော်မူလေသည်။ ယင်းသို့ ပြစ်ဒဏ်ခတ်တော်မူလိုက်သောအခါ ထိုပြစ်ဒဏ်တော်ကို မည်သူတစ်ဦးတစ်ယောက်မျှ တွန်းလှန်ဖယ်ရှားနိုင်သည်ဟူ၍ကား အလျှင်းမရှိပေ။ ယုတ်စွအဆုံး လူသားတို့အား ထိန်းသိမ်းကာကွယ်ရန် ခန့်အပ်ထားတော်မူခြင်းခံရသော ကောင်းကင်တမန်များသည်ပင်လျှင် ထိုအရှင်မြတ်၏ အမိန့်တော်ဖြင့် ထိုသို့ ပြစ်ဒဏ်ခတ်တော်မူသည့်အခါတွင် တိမ်းရှောင်၍နေကြပေသည်။

(၂) အထက်တွင် အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား ထိန်းသိမ်း ကာကွယ်တော်မူသည့် ➤➤

وَيُسَبِّحُ الرَّعْدُ بِحَمْدِهٖ
وَالْمَلٰٓئِكَةُ مِنْ خِيفَتِهٖ
وَيُرْسِلُ الصَّوَاعِقَ
فَيُصِيبُ بِهَا مَنْ
يَّشَآءُ وَهُمْ يُجَادِلُونَ
فِى اللّٰهِ وَهُوَ شَدِيدُ
الْمِحَالِ ⑬

၁၃။ ၎င်းပြင် *'ရအ်ဒ်'* အမည်ရှိသော [၁] ကောင်းကင်တမန် (မိုးခြိမ်းသံ)သည် ထိုအရှင်မြတ်အား ချီးမွမ်းထောပနာပြုခြင်းနှင့် (ထိုအရှင်မြတ်) သန့်ရှင်း စင်ကြယ်တော်မူကြောင်းကို ဘာဝနာစီးဖျန်းလေသည်။ ထိုနည်းတူစွာ (အခြား) ကောင်းကင်တမန်တို့သည်လည်း ထိုအရှင်မြတ်အား ကြောက်ရွံ့ ရိုသေခြင်းအားဖြင့် (ချီးမွမ်းထောပနာပြုခြင်းနှင့် သန့်ရှင်းတော်မူကြောင်းကို ဘာဝနာ စီးဖျန်းကြကုန်၏။)

ထိုမှတပါး ထိုအရှင်မြတ်သည် မိုးကြိုးသွားများကို စေလွှတ်တော်မူပြီးနောက် မိမိအလိုရှိတော်မူသောသူ၏ အပေါ်ဝယ် ယင်းမိုးကြိုးသွားများကို ကျရောက်စေတော်မူ၏။ သို့ပါလျက် ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ *ငြင်းခုံလျက်ရှိကြကုန်၏။* [၂] စင်စစ်မှာမူကား ထိုအရှင်မြတ်သည် ဖမ်းဆီးအရေးယူတော်မူသောအရှင်၊ (အားအင်အလွန်ကြီးမားသောအရှင်)မြတ်ပင် ဖြစ်တော်မူပေသတည်း။

➤➤ အကြောင်းပါရှိ၏။ ထို့အတူ လူသားတို့ ဆိုးမိုက်ကြသောအခါ အပြစ်ရှိသည့် အားလျော်စွာ ထိုအရှင်မြတ်သည် ပြစ်ဒဏ်တော်ခတ်တော်မူသည့် အကြောင်းလည်း ပါရှိ၏။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်သည် အနန္တကျေးဇူးတော်ရှင်လည်း ဖြစ်တော်မူကြောင်း အပြစ်ရှိသူတို့အား အပြစ်ရှိသည့် အားလျော်စွာ ပြစ်ဒဏ်ခတ်တော်မူသောအရှင်လည်း ဖြစ်တော်မူကြောင်း ကောင်းစွာသိရှိရပေသည်။

ဤသည့်သဘောနှင့်ဆက်စပ်၍ ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ် ပြုစီရင်ထားတော်မူသော အရာများအနက် မျှော်လင့်အားထားဖွယ်ရာလည်းဖြစ်သော၊ စိုးရိမ်ဖွယ်ရာလည်းဖြစ်သော အချို့အရာများကို မိန့်ဆိုထားတော်မူသည်။ ဥပမာ – လျှပ်စီးပြက်သောအခါ လူသားသည် မိုးရွာသွန်းမည်ဟု မျှော်လင့်အားထား၏။ မိုးကြိုး လောင်မီးကျပြီး သေကြေပျက်စီးနိုင်သည်ကို တွေး၍လည်း စိုးရိမ် ကြောက်ရွံ့၏။ ထို့အတူ မိုးရေများဖြင့် ပြည့်နှက်လျက်ရှိသော မိုးတိမ်များကို မြင်ရသောအခါ မိုးရွာသွန်းမည်ကိုတွေး၍ဝမ်းသာ၏။ထို့အတူ မိုးသည်းထန်စွာရွာသွန်းပြီး ရေဘေးသင့်မည်ကို တွေး၍ လည်းစိုးရိမ်၏။ ဤသည့်သဘောကို ထောက်ရှု၍ လူသားများသည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကိုလည်း အမြဲတစေ အားထားရ၏။ ထို့အတူ ထိုအရှင်မြတ်၏ ပြစ်ဒဏ်တော်ကိုလည်း စိုးရိမ်ရာ၏။

⓵ (ရအ်ဒ်)၏ မူရင်းအနက်မှာ 'မိုးချုန်းသံ' ဟူ၍ဖြစ်သည်။ ဤနေရာတွင်မူ မိုးတိမ်များကို စီမံ အုပ်ချုပ်ရန် တာဝန်လွှဲအပ်ပေးခြင်းခံရသော ကောင်းကင်တမန်ကို ဆိုလိုသည်။ ကြည့်-တစ်ရ်မိဇီ၊ ရာဃစ်ဗ်၊ ကဗီရ်။

لَهٗ دَعْوَةُ الْحَقِّ ؕ وَالَّذِيْنَ يَدْعُوْنَ مِنْ دُوْنِهٖ لَا يَسْتَجِيْبُوْنَ لَهُمْ بِشَيْءٍ اِلَّا كَبَاسِطِ كَفَّيْهِ اِلَى الْمَآءِ لِيَبْلُغَ فَاهُ وَمَا هُوَ بِبَالِغِهٖ ؕ وَمَا دُعَآءُ الْكٰفِرِيْنَ اِلَّا فِيْ ضَلٰلٍ ﴿١٤﴾

၁၄။ မှန်ကန်သော ဟစ်ခေါ်တသ ဆုတောင်းပတ္ထနာပြုမှုသည် ထိုအရှင်မြတ်အထံတော်၌ သာလျှင် ပြုထိုက်၏။ စင်စစ် ၎င်းတို့ဟစ်ခေါ်တသ ဆုတောင်းပတ္ထနာပြုလျက် ရှိကြကုန်သော အရာဝတ္ထုတို့မှာမူကား ၎င်းတို့အား အကြင်သူ(ရရှိသည်)ထက် ပိုမို၍ ပေးစွမ်းနိုင်ကြသည်မရှိချေ။ ထိုသူသည် ရေရှိရာဘက်သို့၊ ထိုရေသည် ၎င်း၏ပါးစပ်ထဲသို့ (အလိုအလျောက်) ရောက်လာ အံ့သောငှာ မိမိလက်ဝါးနှစ်ဖက်ကို ဖြန့်၍ထား၏။ စင်စစ်မှာမူကား ထိုရေသည် (မည်သည့်အခါမျှအလိုအလျောက်)*ယင်းပါးစပ်ထဲသို့ ရောက်ရှိလာမည်မဟုတ်ပေ။*[၁] အမှန်သော်ကား ကာဖိရ် သွေဖည်ငြင်းပယ်သော သူတို့၏ *ဟစ်ခေါ်တသ ဆုတောင်းပတ္ထနာပြုမှုသည် လွဲမှားမှု၌သာ ရှိနေပေသတည်း။*[၂]

---

(၂) ဤကုရ်အာန်ကျမ်းမြတ် (၁၃း၈-၁၃)တွင် ပါရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ်သည် အနန္တတန်ခိုးတော်များနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူ၏။ ကာဖိရ်များသည် ထိုသည့် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ပင် ငြင်းခုံလျက် ရှိကြပေသည်။ မိုက်တွင်းနက်ကြပါဘိ။

ဤအာယတ်တော်တွင်ပါရှိသည့် (وَهُوَ شَدِيْدُ الْمِحَالِ) ဟူသော ဝါကျ၏အနက်ကို ထိုအရှင်မြတ်သည် ပြင်းထန်စွာ ပြစ်ဒဏ်ပေးတော်မူသောအရှင်၊ ကြံစည်တော်မူသောအရှင်၊ အားအင်ကြီးမားတော်မူသောအရှင်၊ တုံ့ပြန်တော်မူသောအရှင် စသည်ဖြင့် မုဖတ်စိစစ်ရ်များသည် အမျိုးမျိုး ဖွင့်ဆိုရေးသားကြပေသည်။

(၁) လူသားတို့သည် အကျိုးအပြစ်အမျိုးမျိုး ပေးနိုင်တော်မူသော အလ္လာဟ်အရှင်မြတ်အထံတော်၌သာလျှင် ဆုတောင်းပတ္ထနာ ပြုသင့်ကြပေသည်။ အကျိုးအပြစ် တစ်စုံတစ်ရာ မပေးနိုင်သူ တစ်ဦးထံ၌ ဆုတောင်းခြင်းဖြင့် အသို့လျှင် အကျိုးရှိနိုင်အံ့နည်း။ အမှန်မှာ အလ္လာဟ်အရှင်မြတ်မှတစ်ပါး မည်သူတစ်ဦးတစ်ယောက်၌မျှ အကျိုးအပြစ်ပေးနိုင်စွမ်း တစ်စုံတစ်ရာ အလျှင်းမရှိပေ။ ထိုအရှင်မြတ်မှတပါး အခြားသူ တစ်ဦးတစ်ယောက်ထံ ဆုပန်ခြင်းသည် အကြင်သူ၏ ရေတောင်းခြင်းနှင့်တူသည်။ ထိုသူသည် ရေငတ်မွတ်သိပ်သည့်အတွက် ရေရလိုသော အာသာဆန္ဒဖြင့် ရေတွင်း နှုတ်ခမ်းပေါ်တွင် မတ်တပ်ရပ်ကာ ရေရှိရာသို့ မိမိ၏လက်များကို ဆန့်တန်း၍ထား၏။ ရေသည် အလိုအလျောက် ၎င်း၏ပါးစပ်တွင်းသို့ ဝင်လာစေလို၏။ ထိုသူသည် ယင်းသို့အားဖြင့် မိမိတစ်သက်တာပတ်လုံး မတ်တပ်ရပ်နေသော်လည်း ရေသည် အလိုအလျောက် ၎င်း၏ ပါးစပ်အတွင်းသို့ ဘယ်သောအခါမျှ ဝင်ရောက်လာမည် မဟုတ်ပေ။ ထို့အတူပင် အလ္လာဟ်အရှင်မြတ်မှတပါး အခြားသူတစ်ဦးတစ်ယောက်ထံ၌ ဆုတောင်းသောသူများသည်လည်း ဘယ်သောအခါ၌မျှ လိုအင်ဆန္ဒပြည့်ဝကြမည် မဟုတ်ပေ။

وَلِلّٰهِ يَسْجُدُ مَنْ فِى السَّمٰوٰتِ وَالْاَرْضِ طَوْعًا وَّكَرْهًا وَّظِلٰلُهُمْ بِالْغُدُوِّ وَالْاٰصَالِ ⑮

၁၅။ ထို့ပြင် မိုးကောင်းကင်၌ ရှိသည်တို့သည်လည်းကောင်း၊ ပထဝီမြေ၌ ရှိသည်တို့သည်လည်းကောင်း၊မိမိစေတနာအလျောက်ဖြစ်စေ၊ စေတနာမရှိဘဲ မလွှဲမရှောင်သာ၍ဖြစ်စေ၊ ထိုအရှင်မြတ်၏ရှေ့တော်မှောက်၌သာလျှင် ပျပ်ဝပ်ဦးချခယရိုကျိုးလျက်ရှိကုန်၏။ ထိုမှတပါး ယင်းတို့၏ အရိပ်ဆာယာတို့မှာလည်း နံနက်ယံများ၌လည်းကောင်း၊ ညနေခင်းများ၌လည်းကောင်း၊ (ထိုနည်းအတိုင်းပင် ပျပ်ဝပ်ဦးချခယ ရိုကျိုးလျက် ရှိကုန်သတည်း)။ ၁

قُلْ مَنْ رَّبُّ السَّمٰوٰتِ وَالْاَرْضِ ؕ قُلِ اللّٰهُ ؕ قُلْ اَفَاتَّخَذْتُمْ مِّنْ دُوْنِهٖۤ اَوْلِيَآءَ لَا يَمْلِكُوْنَ لِاَنْفُسِهِمْ نَفْعًا

၁၆။ (အို-နဗီတမန်တော်)အသင်သည်(၎င်းတို့အားဤသို့)ပြောဆို(မေးမြန်း)ပါလေ။ (ဟယ်-အချင်းတို့) မိုးကောင်းကင်များကို လည်းကောင်း၊ ပထဝီမြေကို လည်းကောင်း၊ ဖန်ဆင်းတော်မူသော အရှင်မြတ်သည် အဘယ်အရှင်နည်း။ အသင်သည်ပင်လျှင် (ဤသို့) ပြောဆိုဖြေကြားပါလေ။ 'အလ္လာဟ်အရှင်မြတ်ပင်'။

---

(၂) သာမန် မျက်မြင်အားဖြင့် ကာဖိရ်များ၏ ဆုမွန်များသည်လည်း ပြည့်ဝသည်ဟူ၍ပင် ထင်မြင်ရပေသည်။ ဤအာယတ်တော်တွင် 'ကာဖိရ်များ၏ဆုမွန်သည် အချည်းအနှီးသာဖြစ်သည်' ဟု မိန့်ဆိုထားတော်မူသည်။

ဆိုလိုသည်ကား အမှန်မှာ ယင်းကာဖိရ်များ၏ဆုမွန်သည် ပြည့်ဝသည်မဟုတ်၊ ၎င်းတို့၏ အချို့လိုအင်ဆန္ဒများသည် အလ္လာဟ်အရှင်မြတ်၏ မူလသဘာဝ အစီအစဉ်များအရ ပြီးမြောက်နေခြင်းသာ ဖြစ်သည်။

အခြား အဆိုတစ်ရပ်အရ ကာဖိရ်များ၏ အချည်းနှီးဖြစ်သော ဆုမွန်များဟူသည် နောင်တမလွန်ဘဝနှင့်ပတ်သက်သော ဆုမွန်များကိုသာ ဆိုလိုသည်။ ဤပစ္စက္ခဘဝနှင့် သက်ဆိုင်သော ဆုမွန်များကို ဆိုလိုသည်မဟုတ်။ ရူဟ်ကျမ်းတွင်လည်း ဤအတိုင်း ဖွင့်ဆိုထားသည်။

(၁) ဆိုလိုသည်ကား စကြာဝဠာအဝန်းရှိ ရုပ်နာမ်၊ အရာခပ်သိမ်းကုန်တို့သည် အလ္လာဟ်အရှင်မြတ်၏ မူလဖန်ဆင်းတော်မူခြင်းဆိုင်ရာ အမိန့်တော်များကို စေတနာအလျောက်ဖြစ်စေ၊ စေတနာမပါရှိဘဲလျက်ဖြစ်စေ၊ နာခံနေကြရသည်သာ ဖြစ်ကုန်၏။ ထိုအရှင်မြတ်၏ အမိန့်တော်များ ရှေ့မှောက်တွင် အရာခပ်သိမ်းကုန်တို့သည် ဦးချလျက်သာ ရှိကုန်၏။ ဆာယာအရိပ်များ၏ ကြီးခြင်း၊ ငယ်ခြင်း၊ ဘယ်၊ ညာ ယိမ်းခြင်းများသည်လည်း ထိုအရှင်မြတ် ပြဋ္ဌာန်းထားတော်မူသည့်အတိုင်းသာ ဖြစ်ပေသည်။

وَّلَا ضَرًّا ۗ قُلْ هَلْ يَسْتَوِى الْاَعْمٰى وَالْبَصِيْرُ ۙ اَمْ هَلْ تَسْتَوِى الظُّلُمٰتُ وَالنُّوْرُ ۚ اَمْ جَعَلُوْا لِلّٰهِ شُرَكَآءَ خَلَقُوْا كَخَلْقِهٖ فَتَشَابَهَ الْخَلْقُ عَلَيْهِمْ ۗ قُلِ اللّٰهُ خَالِقُ كُلِّ شَىْءٍ وَّهُوَ الْوَاحِدُ الْقَهَّارُ ⑯

အသင်သည်(၎င်းတို့အား ဤသည်ကိုလည်း) ပြောဆိုမေးမြန်းပါဦးလေ။ (ဟယ်-အချင်းတို့)၊ သို့ပါလျက် အသင်တို့သည် ထိုအရှင်မြတ်အား စွန့်၍ မိမိတို့ကိုယ်နှင့် ပတ်သက်၍ပင် အကျိုးကျေးဇူး ဖြစ်ထွန်းစေခြင်းကိုလည်းကောင်း၊ အကျိုးယုတ်စေခြင်းကိုလည်းကောင်း၊*အစိုးမရသောအရာများကိုပင် အရာရာကို စီမံခန့်ခွဲ၍ပေးသူများ* [၁] ပြုလုပ်ခဲ့ကြလေပြီလော။

အသင်သည် (၎င်းတို့အား ဤသည်တို့ကိုလည်း)ပြောဆိုမေးမြန်းပါဦးလေ။ (ဟယ်-အချင်းတို့) စက္ခုအလင်းမရသောသူနှင့် စက္ခုအလင်းရသူသည် *တူနိုင်ပါမည်လော။* [၂] သို့တည်းမဟုတ် အမှောင်နှင့် အလင်းရောင်သည် တူနိုင်ပါမည်လော။ သို့တည်းမဟုတ် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၌ အကြင်တွဲဖက်များကို ပြုလုပ်၍ထားခဲ့ကြသလော။ ထိုတွဲဖက်တို့သည် ထိုအရှင်မြတ် ဖန်ဆင်းတော်မူဘိသကဲ့သို့ပင် ဖန်ဆင်းခဲ့ကြသည်ဖြစ်သလော။ သို့ဖြစ်ပေရာ ဖန်ဆင်းသောအရာသည် ၎င်းတို့အပေါ်၌ *ဆင်တူယိုးမှားဖြစ်ခဲ့သည် ဖြစ်သလော။* [၃]

---

(၁) မုရှ်ရစ်က်တို့သည် တစ်ဖက်တွင် တစ်ဆူတည်းသော ကိုးကွယ်ရာအရှင်မှာ အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူပါသည်ဟု ထုတ်ဖော်ဝန်ခံကြ၏။ သို့တစေလည်း အခြားတစ်ဖက်တွင် တစ်စုံတစ်ရာ အကျိုးအပြစ် အလျှင်းမပေးနိုင်သောအရာများကိုလည်း ထိုအရှင်မြတ်နှင့် ယှဉ်တွဲ၍ ဆည်းကပ်ကိုးကွယ်နေကြ၏။ မုရှ်ရစ်က်တို့၏ အယူအဆ အကျင့်အမူတို့ကား ကမောက်ကမ နိုင်လွန်းလှပေသည်။

(၂) တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကိုးကွယ်သော 'မို့ဝဟ်ဟစ်ဒ်' သည် စက္ခုအလင်းရသူနှင့်တူသည်။ ထိုအရှင်မြတ်နှင့် ယှဉ်တွဲ၍ ဘုရားအများ ကိုးကွယ်သော 'မုရှ်ရစ်က်'သည် စက္ခုအလင်းမရသော မျက်ကန်းနှင့်တူသည်။ 'တောင်ဟီးဒ်' သည် အလင်းရောင်ခြည်နှင့် တူသည်။ 'ရှရစ်က်' သည် အမိုက်မှောင်နှင့် တူသည်။ သို့ဖြစ်ပေရာ အမိုက်မှောင်များတွင် တဝဲလည်လည် အိုးနင်းခွက်နင်းဖြစ်နေသော 'မုရှ်ရစ်က်' တစ်ဦးသည် အီမာန်၊ အိရ်ဖာန်၏ အသိဉာဏ် အမြော်အမြင်တည်းဟူသော အလင်းရောင်တွင် သွားလာ၍ လိုရာပန်းတိုင်သို့ ရောက်ရှိနေသော 'မို့ဝဟ်ဟစ်ဒ်' တစ်ဦးနှင့် အသို့လျှင် တူနိုင်အံ့နည်း။ အလျှင်းမတူချေ။

(၃) အလ္လာဟ်အရှင်မြတ်နှင့်ယှဉ်တွဲ၍ မုရှ်ရစ်က်များ ကိုးကွယ်သောအရာများသည် အလ္လာဟ်အရှင်မြတ် ➤➤

(အို-နဗီတမန်တော်)အသင်သည်(၎င်းတို့အား ဤသို့)ပြောဆိုဖြေကြားပါလေ။ (ဟယ်-အချင်းတို့) အလ္လာဟ်အရှင်မြတ် သည်သာလျှင် အရာခပ်သိမ်းကို ဖန်ဆင်းတော်မူသော အရှင်ဖြစ်တော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည်လျှင် တစ်ဆူတည်းသောအရှင်၊ နှိမ်နင်းလွှမ်းမိုးတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

أَنزَلَ مِنَ السَّمَاءِ مَاءً
فَسَالَتْ أَوْدِيَةٌ بِقَدَرِهَا
فَاحْتَمَلَ السَّيْلُ زَبَدًا
رَّابِيًا ۚ وَمِمَّا يُوقِدُونَ
عَلَيْهِ فِي النَّارِ ابْتِغَاءَ
حِلْيَةٍ أَوْ مَتَاعٍ زَبَدٌ
مِّثْلُهُ ۚ كَذَٰلِكَ يَضْرِبُ اللَّهُ
الْحَقَّ وَالْبَاطِلَ ۚ فَأَمَّا

**၁၇။** ထိုအရှင်မြတ်သည် မိုးကောင်းကင်မှာ (မိုး) ရေကို ရွာသွန်းစေတော်မူခဲ့၏။ သို့ဖြစ်ပေရာ ချောင်း၊ လျို၊ ရိုးများသည် မိမိတို့၏အဝင်အဆံ့နှင့် လျော်ညီစွာ စီးတွေ၍လာခဲ့ကြလေသည်။ တစ်ဖန် ပြင်းစွာစီးသော ထိုရေစီးသည် တက်၍နေသော ရေမြှုပ်ကို အထက်သို့ ချီဆောင်၍ လာခဲ့လေသည်။ ထိုနည်းတူစွာလူတို့သည် လက်ဝတ်လက်စားသော်လည်းကောင်း၊ (အခြား) အသုံးအဆောင် ကိရိယာပစ္စည်းသော်လည်းကောင်း၊ ပြုလုပ်အံ့သောငှာ (ဖိုထဲ၌) မီးချကြကုန်သောဓာတ်သတ္တုများတွင်လည်း ယင်းကဲ့သို့ပင်အမြှုပ်အချေးသည် ရှိပေသည်။ အလ္လာဟ်အရှင်မြတ်သည် ဤနည်းအတိုင်းပင် အမှန်နှင့်အမှားကို ပုံခိုင်းတော်မူလေသည်။

➢➢ ဖန်ဆင်းတော်မူသကဲ့သို့ တစ်စုံတစ်ရာကိုမျှ ဖန်ဆင်းနိုင်ကြသည်ဟူ၍ အလျင်းမရှိပေ။ စကားအဖြစ်အကယ်တန္တု ထိုအရာများသည် တစ်စုံတစ်ရာကို အမည်မှည့်ရုံမျှပင် ဖန်ဆင်းနိုင်ခဲ့သည်ရှိပါက ဖန်ဆင်းမှုတွင်ဆင်တူရိုးမှား ဖြစ်၍ မုရှ်ရစ်က်တို့သည် ထိုအရာများကို မေ့မှားပြီး အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲကိုးကွယ်မိကြသည်ဟုဆိုပါလျှင် ဆိုစေဦးတော့။ ယခုမူ တစ်စုံတစ်ရာကိုမျှ ဖန်ဆင်းနိုင်သည်လည်း အလျင်းမရှိ၊ ဖန်ဆင်းနိုင်ရန်ဝေးစွ။ ၎င်းတို့သည်ပင်လျှင် အခြားအဖန်ဆင်းခံ အရာများကဲ့သို့ အလ္လာဟ်အရှင်မြတ် စီရင်ဖန်ဆင်းထားတော်မူသော အဖန်ဆင်းခံ အရာများသာလျှင် ဖြစ်ကြပေသည်။ သို့ပါလျက် ယင်းကဲ့သို့ တစ်စုံတစ်ရာ အစွမ်းသတ္တိမရှိသော အရာများကို အနန္တ တန်ခိုးတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲကိုးကွယ်ခြင်းမှာ မိုက်တွင်းနက်ခြင်းပင်။

الزَّبَدُ فَيَذْهَبُ جُفَاءً ۚ وَأَمَّا مَا يَنفَعُ النَّاسَ فَيَمْكُثُ فِي الْأَرْضِ ۚ كَذَٰلِكَ يَضْرِبُ اللَّهُ الْأَمْثَالَ ﴿١٧﴾

သို့ဖြစ်ပေရာအညစ်အကြေးသည် အသုံးမကျသောအရာအဖြစ် အချည်းနှီးဖြစ်သွားလေတော့သည်။ သို့ရာတွင် လူတို့အဖို့ အသုံးဝင်သောအရာမှာမူကား ကမ္ဘာမြေဝယ် ကျန်ရှိ၍ နေလေသည်။ အလ္လာဟ်အရှင်မြတ်သည် ဤနည်းအတိုင်းပင် ဥပမာ ပုံဆောင်ချက်များကို ခိုင်းနှိုင်းတော်မူချေသတည်း။ [၁]

لِلَّذِينَ اسْتَجَابُوا لِرَبِّهِمُ الْحُسْنَىٰ ۚ وَالَّذِينَ لَمْ يَسْتَجِيبُوا لَهُ

**၁၈။** မိမိတို့အား ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ်၏ အမိန့်တော်ကို လက်ခံနာယူကြကုန်သောသူတို့အဖို့ အကောင်းမြတ်ဆုံးသောအကျိုးသည် ရှိပေသည်။

---

(၁) **အမှားအမှန်ပုံဆောင်ချက်**

အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်မှ မိုးရေကို ရွာသွန်းချပေးတော်မူ၏။ ထိုအခါ ချောင်း၊ မြောင်းကြီးငယ်တို့သည် စီးတွေလေသည်။ ချောင်း၊ မြောင်းများတွင် ရေများစီးတွေသည့်အခါ မြေများ၊ အညစ်အကြေးများ၊ အမှိုက်သရိုက်များကြောင့် ရေသည် ညစ်နောက်၍ သွားပေသည်။ ထို့နောက် အညစ်အကြေးများသည် ရေပြင်ပေါ်သို့ တက်၍လာလေသည်။ အချို့ အညစ်အကြေးများသည် ရေမြှုပ်များဖြစ်၍ ပေါ်လာလေသည်။ ဤကဲ့သို့ပင် သံ၊ ခဲ၊ သွတ်၊ ကြေး၊ ငွေ ... စသည့် သတ္တုများကို ဖိုတွင်ထည့်၍ ကျိုသောအခါတွင်လည်း အညစ်အကြေးများသည် အပေါ်သို့ တက်လာပေသည်။ အမြှုပ်များ၊ ချော်ရည်များလည်း ထွက်ပေါ်လာပေသည်။ သို့ရာတွင် ထိုအညစ်အကြေးများ၊ အမြှုပ်များသည် တစ်ခဏအတွင်းမှာပင် ပျောက်ကွယ်၍ သွားပေသည်။ အသုံးဝင်သော အရာများသည် (ဝါ) ရေများနှင့်သတ္တုများသည် အောက်တွင်၊ မြေတွင် ၊တစ်နည်း မြေပေါ်၌ ရှိသော လူသားတို့၏လက်တွင် ကျန်ရစ်နေခဲ့ပေသည်။

အမှားနှင့် အမှန်၏ သဘောမှာလည်း အထက်ပါ ပုံဆောင်ချက် သဘောအတိုင်းပင်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်မှ မိုးရေများကို ရွာသွန်းချပေးတော်မူသည့်အတိုင်း တရားဒေသနာတော်များကိုလည်း မိမိထံတော်မှ ကမ္ဘာမြေပြင်ရှိ လူသားတို့ထံသို့ ပို့ချပေးတော်မူသည်။ တရားဒေသနာတော်များ ရောက်ရှိလာသောအခါ လူသားတို့၏ စိတ်နှလုံးများသည် မိမိတို့၌ရှိသော အရည်အချင်းများအလျောက် အကျိုးခံစားကြပေသည်။ ထို့နောက် အမှားနှင့်အမှန် တွေ့ဆုံသောအခါ အမှားသည် ရေမြှုပ်ပမာ အပေါ်သို့ ခေတ္တတက်လာပေသည်။ သာမန်အားဖြင့် ဆိုလျှင် အမှားသည် အမှန်ကိုပင် လွှမ်းမိုးသွားသည်ကဲ့သို့ ထင်ရသည်။ သို့ရာတွင် အမှား၏ မြင့်မောက်မှုသည် ခေတ္တခဏအဖို့သာဖြစ်သည်။ မကြာမီအတွင်း ထိုအမှားသည် ရေမြှုပ်ပမာ ပျောက်ကွယ် ပျက်စီးယိုယွင်း သွားမည်သာဖြစ်သည်။ အမှန်တရားမူကား အမြဲတစေ တည်ရှိနေပေသည်။ ဤကား မျက်မြင်ကိုယ်တွေ့ပင်။

ထို့အတွက်ကြောင့် မွတ်စ်လင်မ်တို့သည် အမှား၏ ခေတ္တခဏ မြင့်မောက်မှု၊ ကြီးပွားမှုများကိုကြည့်ပြီး စိတ်အားမငယ်ကြသင့်ပေ။ အထင်မှား အမြင်မှား မဖြစ်သင့်ကြပေ။

لَوْ أَنَّ لَهُمْ مَّا فِي الْأَرْضِ جَمِيعًا وَّمِثْلَهُ مَعَهُ لَافْتَدَوْا بِهِ ۚ أُولَٰئِكَ لَهُمْ سُوءُ الْحِسَابِ ۙ وَمَأْوَاهُمْ جَهَنَّمُ ۖ وَبِئْسَ الْمِهَادُ ﴿١٨﴾

သို့ရာတွင် ထိုအရှင်မြတ်၏ အမိန့်တော်ကို လက်ခံနာယူခြင်း မပြုခဲ့ကြသောသူတို့မူကား အကယ်၍ ဧကန်စင်စစ် ၎င်းတို့၌ ကမ္ဘာမြေဝယ်ရှိသမျှသော အရာဝတ္ထုအလုံးစုံတို့အပြင် ယင်းနှင့်အတူထိုမျှလောက် နောက်ထပ် ရှိပါလျှင်လည်း အမှန်ပင် ၎င်းတို့သည် ထိုအလုံးစုံတို့ကို လျော်ကြေးအဖြစ် ပေးကြမည်သာတည်း။ ဤသူများပင်၎င်းတို့၌ အလွန်ပြင်းထန် ပူဆွေးဖွယ်ဖြစ်သော စစ်ဆေးမှုသည်ရှိချေမည်။ ထို့ပြင် ၎င်းတို့၏ နေရာထိုင်ခင်းသည် ဂျဟန္နမ်ငရဲဘုံပင် ဖြစ်ပေမည်။ စင်စစ်သော်ကား ယင်းနေရာထိုင်ခင်းသည် အလွန်ပင် ဆိုးရွားလှပေသည်တကား။ ၁

أَفَمَن يَعْلَمُ أَنَّمَا أُنزِلَ إِلَيْكَ مِن رَّبِّكَ الْحَقُّ كَمَنْ هُوَ أَعْمَىٰ ۚ إِنَّمَا يَتَذَكَّرُ أُولُو الْأَلْبَابِ ﴿١٩﴾

**၁၉။** အကြင်သူသည် စက္ခုအလင်းမရရှိသော မျက်ကန်းကဲ့သို့ဖြစ်နိုင်ပါမည်လော။ ထိုသူသည် အသင်၏ထံသို့ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်မှ ကျရောက်လာသောအရာသည်အမှန်တရားပင် ဖြစ်သည်ဟုကောင်းစွာ ယုံကြည်လေသည်။ (စင်စစ်မှာမူကား) နှိသမ္မဉာဏ်ရှင်တို့ *သည်သာသာလျှင် တရားကျကြကုန်သတည်း။* ၂

---

(၁) အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုး၍ ထိုအရှင်မြတ်၏ အမိန့်တော်များနှင့်အညီ ကောင်းမွန်မြင့်မြတ်သော သီလများကို ဆောက်တည်ကြကုန်သော သူမွန်သူမြတ်တို့အဖို့ နှစ်ဘဝလုံး၌ပင် ကာယသုခ၊ စိတ္တသုခများ ရှိပေသည်။ ထိုသူမွန်သူမြတ်တို့သည် သုခ အစစ်အမှန်ကို ခံစားကြရပေမည်။ ဤကား မုအ်မင်န်တို့၏ နောက်ဆုံးအခြေတည်း။

သို့ရာတွင် ထိုအရှင်မြတ်အား သွေဖည်ငြင်းဆန် မနာခံကြသော သူယုတ်မာတို့သည် ဤပစ္စက္ခဘဝတွင် အသို့ပင် နေထိုင်ကြရလင့်ကစား နောင်တမလွန်ဘဝတွင်မူ အစအဆုံးမရှိသော ဒုက္ခများကို ခံစားကြရမည်မှာ အမှန်ပင်။ ၎င်းတို့သည် အဘယ်မျှ စိုးရိမ်ပူပန်ကြမည်ဆိုလျှင်၊ အကယ်တန္တ ၎င်းတို့၌ ကမ္ဘာအဝန်းရှိ ဘဏ္ဍာတော်တိုက်များရှိပါက ထိုမျှမက ထိုဘဏ္ဍာတော်တိုက်များအပြင်၊ ထိုမျှပင် နောက်ထပ်ရှိပါကလည်း ၎င်းတို့သည် ထိုထိုသော ဘဏ္ဍာတော်တိုက်အားလုံးတို့ကို မိမိတို့ ဘေးဒုက္ခများမှ လွတ်ကင်းကြရန်အတွက် လျော်ကြေးအဖြစ် ပေးပစ်ကြမည်သာ ဖြစ်ပေသည်။ သို့ရာတွင် ၎င်းတို့၌ ထိုအချိန်တွင် ဥစ္စာပစ္စည်းဟူ၍ တစ်စုံတစ်ရာမျှ ရှိမည်မဟုတ်ပေ။ တစ်စုံတစ်ရာမျှလည်း လျော်ကြေးပေးနိုင်မည် မဟုတ်ပေ။ ➤➤

الَّذِيْنَ يُوْفُوْنَ بِعَهْدِ اللّٰهِ وَلَا يَنْقُضُوْنَ الْمِيْثَاقَ ۝٢٠

၂၀။ (ထိုပညာရှင်များကား) အကြင်သူများတည်း၊ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်နှင့် ထားရှိသော ပဋိညာဉ်ခံဝန်ချက်ကို ကျေပြွန်စွာ ဆောင်ရွက်ကြပေသည်။ ထို့ပြင် (ယင်း) ပဋိညာဉ်ခံဝန်ချက်ကို မဖောက်ဖျက်ကြပေ။ မချိုးဖောက်ကြပေ။ ၁

وَالَّذِيْنَ يَصِلُوْنَ مَا اَمَرَ اللّٰهُ بِهٖ اَنْ يُّوْصَلَ وَيَخْشَوْنَ رَبَّهُمْ وَيَخَافُوْنَ سُوْٓءَ الْحِسَابِ ۝٢١

၂၁။ ၎င်းပြင်ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်က ဆက်စပ်၍ထားရှိရန် အမိန့်ပေးတော်မူသည့် အဆက်အသွယ်များကို ဆက်စပ်၍ ထားရှိကြကုန်၏။ ထို့ပြင် ၎င်းတို့သည် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ကြောက်ရွံ့ရှိသေကြကုန်၏။ ထိုမှတစ်ပါး၎င်းတို့သည်အလွန်ပူဆွေးဖွယ်ဖြစ်သော စစ်ဆေးမှုကိုလည်းစိုးရိမ်*ကြောင့်ကြကြ*ကုန်သတည်း။ ၂

---

➤➤ အလ္လာဟ်အရှင်မြတ်ကလည်း လက်ခံတော်မူမည်မဟုတ်ပေ။ သို့ဖြစ်ပေရာ ၎င်းတို့သည် ငရဲဘုံနန်းစံမြန်းကြရမည်သာ ဖြစ်သည်။ ဤကား ကာဖိရ်မုရှ်ရစ်ကတို့၏ နောက်ဆုံးအခြေတည်း။

(၂) အထက်တွင် မုအ်မင်န်နှင့် ကာဖိရ်များ၏ နောက်ဆုံးလားရာဘုံများကို မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်တွင် ယင်းကဲ့သို့ဖြစ်ရခြင်းမှာ အသိဉာဏ် အမြော်အမြင်နှင့်လည်း ကိုက်ညီကြောင်း မိန့်ဆိုထားတော်မူသည်။ အဘယ့်ကြောင့်ဆိုသော် အမိုက်မှောင်များတွင် စမ်းတဝါးဝါးဖြစ်နေသော၊ စိတ်မျက်စိ ကန်းနေသော ဉာဏ်ကန်း၊ အသိကန်းတစ်ဦးသည် စိတ်မျက်စိကောင်း၍ အမြင်မှန်ရကာ အမှန်တရား၏ အရသာအမြိုက်ကို ခံစားနေသူတစ်ဦးနှင့် အသို့လျှင်တူနိုင်အံ့နည်း။ အလျှင်းမတူနိုင်ပေ။

ဤအာယတ်တော်တွင် 'အသင်၏ အရှင်ထံတော်မှ အသင့်ထံသို့ကျရောက်လာသော တရားဒေသနာတော်ကို အမှန်ဟူ၍ ယုံကြည်သူသည်' မုအ်မင်န်၊ မွတ်စ်လင်မ်ကို ဆိုလိုသည်။ ဤအာယတ်တော်တွင် 'မျက်ကန်း' ဟူသည် ကာဖိရ်ကိုဆိုလိုသည်။ ဤအာယတ်တော်တွင် 'အသင်၏အရှင်ထံတော်မှ အသင့်ထံသို့ ကျရောက်လာ သော တရားဒေသနာတော်' ဟူသည် ကုရ်အာန်ကျမ်းမြတ်ကို ဆိုလိုသည်။

(၁) **<u>စင်ကြယ်သန့်ရှင်းအပြစ်ကင်းသည့် ဉာဏ်ရှင်များ၏ ဂုဏ်ပုဒ်များ။</u>**

(က) စင်ကြယ်သန့်ရှင်း အပြစ်ကင်းသည့် ဉာဏ်ရှင်များသည် အလ္လာဟ်အရှင်မြတ်၏ ပဋိညာဉ်တော်ကို ဦးထိပ်ထားကြသည်။ ပဋိညာဉ်တော်နှင့်အညီ လိုက်နာကျင့်မူကြသည်။ ပဋိညာဉ်တော်ကို စိုးစဉ်းမျှ မချိုးဖောက်ကြပေ။

'အလ္လာဟ်အရှင်မြတ်၏ ပဋိညာဉ်တော်' ဟူသည် 'အဇလ်' နေ့တွင် 'အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့၏ အရှင်သခင် အမှန်ပင်ဖြစ်တော်မူပါသည်' ဟူ၍ လူသားတို့ အာမဘန္တေ ခံယူခဲ့ကြသည့် ပဋိညာဉ်တော်ကို ဆိုလိုသည်။

ဤအကြောင်း ကုရ်အာန်-(၇း၁၇၇)တွင် ပါရှိသည်။ 

وَالَّذِينَ صَبَرُوا ابْتِغَاءَ وَجْهِ رَبِّهِمْ وَأَقَامُوا الصَّلَاةَ وَأَنفَقُوا مِمَّا رَزَقْنَاهُمْ سِرًّا وَعَلَانِيَةً وَيَدْرَءُونَ بِالْحَسَنَةِ السَّيِّئَةَ أُولَٰئِكَ لَهُمْ عُقْبَى الدَّارِ ﴿٢٢﴾

၂၂။ ထိုမှတစ်ပါးငင်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ နှစ်သက်မှုကို ရှာဖွေဆည်းပူးရာ၌ *တည်တံ့ကြံ့ခိုင်စွာ ရှိကြကုန်၏။* ^၁ ငင်းပြင် ထိုသူတို့သည် *ဆွလာတ်ဝတ်ပြုမှုကို ဆောက်တည်ကြကုန်၏။* ^၂ ထိုနည်းတူစွာ ယင်းတို့သည် ငါအရှင်မြတ် ငင်းတို့အား ချီးမြှင့် ပေးသနားတော်မူခဲ့သည့်ဥစ္စာပစ္စည်းများအနက်မှ လျှို့ဝှက်စွာတဖုံ၊ ထင်ရှားစွာတမျိုး*လှူဒါန်းသုံးစွဲကြကုန်၏။* ^၃ ထိုမှတပါး ငင်းတို့သည် မကောင်းမှုကို ကောင်းမှုဖြင့် လွှဲဖယ်*တုံ့ပြန်ကြကုန်၏။* ^၄ ဤကဲ့သို့သောသူတို့အဖို့ နောင်*တမလွန်ဘဝ၏ ကောင်းကျိုးသည်* ^၅ ရှိပေသတည်း။

---

➤➤ အချို့က ဤ (عهد الله) 'အဟ်ဒုလ္လာဟ်' 'အလ္လာဟ်အရှင်မြတ်၏ ပဋိညာဉ်တော်' ဟူသောပုဒ်သည် (حقوق الله) 'ဟုကူကုလ္လာဟ်' 'အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ လူသားတို့ လိုက်နာကျင့်သုံးရမည့် တာဝန်များ' ဟူသောပုဒ်နှင့် အဓိပ္ပါယ်တူဖြစ်သည်ဟု ဆိုကြသည်။ ထိုတာဝန်များတွင် အနိမ့်ဆုံးအဆင့်မှာ အပြစ်ကြီးများ၏ ရှောင်ကြဉ်ခြင်းဖြစ်သည်။

ကျန်အချက်များကို လာမည့်အာယတ်တော်များ၏ သက်ဆိုင်ရာရှင်းချက်အသီးသီးတွင်ကြည့်ပါ။

(၂) (ခ) အထက်တွင် စင်ကြယ်သန့်ရှင်း အပြစ်ကင်းသော ဉာဏ်ရှင်များသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်ပညတ် အရပ်ရပ်ကို လိုက်နာကျင့်သုံးကြသည်ကဲ့သို့ ကမ္ဘာသူကမ္ဘာသားများနှင့် ပတ်သက်၍ လူသားတို့ လိုက်နာကျင့်သုံးကြရမည့် တာဝန်များကိုလည်းကျေပွန်စွာ ထမ်းဆောင်ကြပေသည်။

(၁) (င) စင်ကြယ်သန့်ရှင်း အပြစ်ကင်းသည့် ဉာဏ်ရှင်များသည် ဒုက္ခကြီးငယ်များနှင့် တွေ့ကြုံကြရသည့်အခါ ကြံ့ခိုင်စွာ ရှိကြသည်။ သည်းခံကြသည်၊ ဘေးဒုက္ခများကို ထိတ်လန့်ပြီး အမိန့်တော်ကို မသွေဖည်ကြပေ၊ အကုသိုလ်များကိုလည်း မကျူးလွန်ကြပေ။

ယင်းသို့ သည်းခံခြင်းမှာ အလ္လာဟ်အရှင်မြတ်၏ နှစ်မြို့တော်မူခြင်းကို လိုလားသည့်အတွက်သာ ဖြစ်သည်။ လူ့လောက လူသားတို့၏ ချီးမွမ်းခြင်းကို ခံမင်၍လည်းမဟုတ်၊ မဖြစ်သာ၍ သည်းခံခြင်းမျိုးလည်း မဟုတ်ပေ။

(၂) (စ) စင်ကြယ်သန့်ရှင်း အပြစ်ကင်းသည့် ဉာဏ်ရှင်များသည် တရားတော်နှင့်အညီ ဆွလာတ်ဝတ်ပြုကြသည်။ ဆွလာတ်ဝတ်ပြုမှုသည် အဘယ်မျှ အရေးကြီးသည်ကို ရှေ့တွင်ဖော်ပြရေးသားခဲ့ပေပြီ။

(၃) (ဆ) စင်ကြယ်သန့်ရှင်း အပြစ်ကင်းသည့်ဉာဏ်ရှင်များသည် မိမိတို့အား အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသည့် ဥစ္စာပစ္စည်းနှင့် စွမ်းရည်သတ္တိများ အနက် လျှို့ဝှက်စွာတမျိုး၊ အထင်အရှားတဖုံ သုံးစွဲကြသည်။

(၄) (ဇ)စင်ကြယ်သန့်ရှင်း အပြစ်ကင်းသည့် ဉာဏ်ရှင်များသည် မကောင်းမှုကို ကောင်းမှုနှင့်တုံ့ပြန်ကြသည်။ ဥပမာ-သူတစ်ပါးက ခက်ထန်ကြမ်းကြုတ်ရန့်ရင်းစွာ ဆက်ဆံလျှင် မိမိတို့က နူးညံ့သိမ်မွေ့စွာ ➤➤

جَنّٰتُ عَدۡنٍ يَّدۡخُلُوۡنَهَا وَمَنۡ صَلَحَ مِنۡ اٰبَآٮِٕهِمۡ وَاَزۡوَاجِهِمۡ وَذُرِّيّٰتِهِمۡ وَالۡمَلٰٓٮِٕكَةُ يَدۡخُلُوۡنَ عَلَيۡهِمۡ مِّنۡ كُلِّ بَابٍ ﴿٢٣﴾

၂၃။ (ဆိုလိုသည်ကား ၎င်းတို့အဖို့) ထာဝရတည်သော ဥယျာဉ်များသည် (ရှိပေမည်)၊ ၎င်းတို့သည် ထိုဥယျာဉ်များသို့ (မိမိတို့ကိုယ်တိုင်လည်း)ဝင်ရောက်ကြပေမည်။ ထိုမှတစ်ပါး ယင်းတို့၏ အဘ၊ ဘိုး၊ ဘေးတို့အနက်မှလည်းကောင်း၊ ယင်းသူတို့၏ကြင်ယာကြင်ဖက်တို့အနက်မှလည်းကောင်း၊ ယင်းတို့၏ သား၊ မြေး၊ မြစ်တို့အနက်မှလည်းကောင်း၊ (ဂျန္နတ်၏) ထိုက်တန်သောသူတို့သည်လည်း ၁ (ဝင်ရောက်ကြပေမည်)၊ ၎င်းပြင် မလာအိကဟ်ကောင်းကင်တမန်များသည် ထိုသူတို့ထံသို့ တံခါးတိုင်းမှ ဝင်ရောက်ကြပေမည်။

سَلٰمٌ عَلَيۡكُمۡ بِمَا صَبَرۡتُمۡ فَنِعۡمَ عُقۡبَى الدَّارِ ﴿٢٤﴾

၂၄။ (ယင်း'မလာအိကဟ်' ကောင်းကင်တမန်များသည် ၎င်းတို့ထံဝင်ရောက်ကြသောအခါ ဤသို့နှုတ်ခွန်းဆက်သပြောဆိုကြမည်ဖြစ်၏။) အသင်တို့သည် (လောကီဘဝ၌) ခန္တီတရားထားရှိ၍ တည်တံ့ကြံ့ခိုင်စွာ ရှိခဲ့ကြသည့်အတွက် ငြိမ်းချမ်းသာယာမှုသည် အသင်တို့အပေါ်၌ ကျရောက်ပါစေသား။ ဤတမလွန်ဘဝ၌ (အသင်တို့ခံစားကြရမည့်) အကျိုးသည် အလွန်ကောင်းမြတ်လှပေသည်တကား။

➤➤ ဆက်ဆံကြသည်။ သူတစ်ပါးက ကျူးလွန်စော်ကားလျှင် မိမိတို့က (ခွင့်လွှတ်ခြင်းဖြင့် မကောင်းမှုကို အားပေးရာမရောက်ပါက) ခွင့်လွှတ်ကြသည်။ အကုသိုလ်ကိုရှောင်ကြဉ်၍ ကုသိုလ်ကောင်းမှုကို အားထုတ်ကြသည်။ မေ့မှား၍ မကောင်းမှုတစ်စုံတစ်ခုကို ကျူးလွန်မိကြလျှင် ဝန်ချတောင်းပန်ပြီး ကျူးလွန်မိသည့် မကောင်းမှုအစား ကောင်းမှုပြုကြသည်။

① အထက်ပါ ဂုဏ်ပုဒ်များနှင့် ပြည့်စုံသော ပုဂ္ဂိုလ်မွန်ပုဂ္ဂိုလ်မြတ်တို့အဖို့ ကောင်းမွန်သော အကျိုး(ဝါ)ဂျန္နတ် ဥယျာဉ်မြတ်ရှိပေသည်။

① ဤအာယတ်တော်တွင် ( ءَابَآ ) 'အာဗာအ်' = 'အဘများ' ဟူ၍ ပါရှိ၏။ ယင်းပုဒ်တွင် မိခင်များလည်း အကျုံးဝင်လျက်ရှိသည်ကို သိအပ်ကြရာ၏။

အထက်တွင် ဖော်ပြပါရှိသော ဂုဏ်ပုဒ်များနှင့် ပြည့်စုံကြသည့် ပုဂ္ဂိုလ်မွန်ပုဂ္ဂိုလ်မြတ်တို့သည် ထာဝရ ဂျန္နတ်ဥယျာဉ်မြတ်တွင် စံမြန်းကြရမည်။ ယင်းသို့စံမြန်းရာတွင် ၎င်းတို့နှင့်အတူ ၎င်းတို့မိဘ၊ ➤➤

وَالَّذِينَ يَنقُضُونَ عَهْدَ اللَّهِ مِن بَعْدِ مِيثَاقِهِ وَيَقْطَعُونَ مَا أَمَرَ اللَّهُ بِهِ أَن يُوصَلَ وَيُفْسِدُونَ فِي الْأَرْضِ أُولَٰئِكَ لَهُمُ اللَّعْنَةُ وَلَهُمْ سُوءُ الدَّارِ ﴿٢٥﴾

၂၅။ သို့ရာတွင် အကြင်သူသည် အလ္လာဟ်အရှင်မြတ်နှင့် ထားရှိသော ပဋိညာဉ် ဝန်ခံချက်ကို ယင်းပဋိညာဉ်ခံဝန်ချက်ကို အခိုင်အမာပြုလုပ်ပြီးနောက် ဖောက်ဖျက်ကြကုန်၏။ ထို့ပြင် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်က ဆက်စပ်၍ထားရန် အမိန့်ပေးတော်မူသည်များကိုလည်း ဖြတ်တောက်ကြကုန်၏။ ထိုမှတပါး ၎င်းတို့သည် ကမ္ဘာမြေဝယ် ဆူပူ သောင်းကျန်းလျက်လည်း ရှိကြကုန်၏။ ထိုကဲ့သို့သူတို့၌ ကရုဏာတော်မှ ကင်းဝေးခြင်းသည်ရှိပေမည်။ ထိုမှတပါး ၎င်းတို့၌ ထိုလောက၏အကျိုးယုတ်မှုသည်လည်း ရှိပေမည်သတည်း။ [၁]

اللَّهُ يَبْسُطُ الرِّزْقَ لِمَن يَشَاءُ وَيَقْدِرُ وَفَرِحُوا بِالْحَيَاةِ الدُّنْيَا وَمَا الْحَيَاةُ الدُّنْيَا فِي الْآخِرَةِ إِلَّا مَتَاعٌ ﴿٢٦﴾

၂၆။ အလ္လာဟ်အရှင်မြတ်သည် *မိမိအလိုရှိတော်မူသောသူအား* [၂] စားနပ်ရိက္ခာကိုတိုးချဲ့၍ပေးတော်မူ၏။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည် (မိမိအလိုရှိတော်မူသောသူ၏အပေါ်၌ စားနပ်ရိက္ခာကို) ကျဉ်းမြောင်းစေတော်မူ၏။ သို့ရာတွင် ထိုသူတို့သည် ဤလောကီဘဝ၌ အသက်ရှင်မှုကြောင့်ပင် ဝမ်းမြောက်ရွှင်မြူးခဲ့ကြလေသည်။ စင်စစ်မှာမူကား ဤလောကီဘဝ၌ အသက်ရှင်မှုသည် *အနည်းငယ် တဒင်္ဂမျှ အကျိုးခံစားခြင်းသာလျှင် ဖြစ်ပေသတည်း။* [၃]

---

➢➢ သားသမီး၊ ဇနီးတို့အနက် ကောင်းမှုကုသိုလ် အကျိုးများကြောင့် ဂျန္နတ်နှင့် ထိုက်တန်ကြသော သားချင်းများသည်လည်း အတူ စံမြန်းကြရပေမည်။

(၁) အထက်တွင် စင်ကြယ်သန့်ရှင်း အပြစ်ကင်းသည့်ဉာဏ်ရှင် သူတော်စင် မွတ်စ်လင်မ်တို့၏ ဂုဏ်ပုဒ်များကို မိန့်ဆိုထားတော်မူသည်။ ဤအာယတ်တော်တွင် သူယုတ်မာများ၏ အကျင့်အကြံများကို ထုတ်ဖော် မိန့်ဆိုထားတော်မူသည်။ ယင်းသူယုတ်မာများသည် အလ္လာဟ်အရှင်မြတ်၏ ပဋိညာဉ်တော်ကို ချိုးဖောက်ကြသည်၊ ထိုအရှင်မြတ်က ဆက်သွယ်ထားရန် အမိန့်ပေးထားတော်မူသည့်အရာများနှင့် အဆက်ဖြတ်ကြပေသည်။ တိုင်းပြည်တွင် ဆူပူသောင်းကျန်းကြပေသည်။ ၎င်းတို့သည် သူတစ်ပါးတို့ကိုလည်း နှိပ်စက်ညှဉ်းပန်းကြပေသည်။ မိမိတို့ကိုယ်ကိုလည်း နှိပ်စက်ညှဉ်းပန်းကြပေသည်။ ဤသို့သော သူယုတ်မာများသည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်နှင့် ကင်းဝေး၍ အလွန်ဆိုးရွားသော ဒုဂတိသို့လားကြရပေမည်။

وَيَقُولُ الَّذِينَ كَفَرُوا لَوْلَا أُنْزِلَ عَلَيْهِ آيَةٌ مِّن رَّبِّهِ ۚ قُلْ إِنَّ اللَّهَ يُضِلُّ مَن يَشَاءُ وَيَهْدِي إِلَيْهِ مَنْ أَنَابَ ﴿٢٧﴾

၂၇။ ထို့ပြင် မယုံမကြည် သွေဖည်ငြင်းပယ်ကြကုန်သောသူတို့က ၎င်း၏အပေါ်၌ ၎င်းအားမွေးမြူဖန်ဆင်းတော်မူသော အရှင်မြတ်အထံတော်မှ တန်ခိုးပြာဋိဟာ တစ်ရပ်ရပ်သည် အဘယ့်ကြောင့် ချပေးခြင်းကို မခံခဲ့ရပါသနည်းဟု ပြောဆိုကြကုန်၏။

(အို-နဗီတမန်တော်)အသင်သည်(၎င်းတို့အား ဤသို့) ပြောဆိုဖြေကြားပါလေ၊ (အချင်းတို့) ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည်မိမိအလိုရှိတော်မူသောသူတို့အား လမ်းမှား၌ပင် ရှိစေတော်မူ၏။ သို့ရာတွင် ထိုအရှင်မြတ်သည် မိမိဘက်သို့ ပြန်လှည့်သောသူတို့ကိုမူကား တရားလမ်းမှန်ကိုပြသတော်မူပေသတည်း၊[၁]

---

(၂) လောကီစည်းစိမ်များကို ကြည့်ပြီး လူတစ်ဦးတစ်ယောက်နှင့် ပတ်သက်၍ ထိုသူ့အား အလ္လာဟ်အရှင်မြတ် လက်ခံတော်မူသည် ဟူ၍သော်လည်းကောင်း၊ ထိုသူ့အား လက်ခံတော်မူသည်မဟုတ် ဟူ၍သော်လည်းကောင်း ယတိပြတ် အဆုံးအဖြတ် မပေးနိုင်ရာ။ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် အချို့ပုဂ္ဂိုလ်များအား ဥစ္စာပစ္စည်း အမြောက်အမြား ပေးထားတော်မူသည်။ ဤသည်ကိုကြည့်၍ အလ္လာဟ်အရှင်မြတ်သည် ထိုသူ့အား လက်ခံနှစ်သက် မြတ်နိုးတော်မူသည်ဟူ၍ မဆိုနိုင်ပေ။ အဘယ့်ကြောင့်ဆိုသော် ထိုအရှင်မြတ်သည် မိမိနှစ်သက်မြတ်နိုးသော အချို့ပုဂ္ဂိုလ်များအား စမ်းသပ်တော်မူလိုသည့် သဘောဖြင့် ဆင်းရဲနွမ်းပါးသည့်အဖြစ်၌ ထားရှိတော်မူသည်။ အချို့သူယုတ်တို့အားလည်း ထိုအရှင်မြတ်သည် ခေတ္တလုန်စား၊ အလျှော့ပေးထားတော်မူသည့်အတွက် ၎င်းတို့သည် လောကီစည်းစိမ်များတွင် နစ်မွန်း၍ နေကြပေသည်။ ဤသည်ကိုထောက်ရှုခြင်းအားဖြင့် ပုဂ္ဂိုလ်အသီးသီးတို့သည် မိမိတို့၏ ကောင်းကျိုးဆိုးကျိုးများကို အတိအကျ ခံစံနိုင်ရန်အတွက် ဤပစ္စက္ခဘဝ၏နောက်တွင် တမလွန်ဘဝရှိသည်ကို ကောင်းစွာ သိရှိနိုင်ပေသည်။ ထို့ပြင်တစ်ဝ ဥစ္စာပစ္စည်းပေါများခြင်း၊ ဥစ္စာပစ္စည်း ချို့တဲ့ခြင်းများသည်လည်း အလ္လာဟ်အရှင်မြတ်၏ထံတော်၌ လက်ခံတော်မူခြင်း၊ လက်ခံတော် မူသည် မဟုတ်ခြင်းတို့ အတွက် စံချိန် (မှတ်ကျောက်) မဟုတ်သည်ကိုလည်း ကောင်းစွာ သိရှိနိုင်ပေသည်။

(၃) ဤပစ္စက္ခဘဝသည် သင်္ချိုင်းမျှသာဖြစ်သည်။ နောင်တမလွန်ဘဝသည် ထာဝရဖြစ်သည်။ ဤပစ္စက္ခသည် အကြောင်းဖြစ်သည်။ နောင်တမလွန်ဘဝသည် အကျိုးဖြစ်သည်။ တစ်နည်းဆိုသော် ဤပစ္စက္ခဘဝသည် နောင်တမလွန်ဘဝ၌ သီးနှံစားသုံးနိုင်ရန် စိုက်ပျိုးရာလယ်ယာမျှသာဖြစ်ပေသည်။ အဓိကမဟုတ်၊ ပန်းတိုင်မဟုတ်၊ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်-(၃း၁၃-၁၄။ ၃း၁၈၄။ ၃း၁၉၅-၁၉၇။ ၄း၇၇။ ၉း၃၈။ ၁၆း၁၁၇။ ၅၇း၂၀-၂၁။ ၈၇း၁၆-၁၇)တွင် ရှုပါကုန်။

(၁) မက္ကာမြို့သား ကာဖိရ်များသည် သက်သေလက္ခဏာတော်အမြောက်အများကို တွေ့မြင်ခဲ့ကြရသည်၊ ➤➤

➢➢ သို့တစေလည်း ၎င်းတို့က 'ကျားကျားမီးယပ်' ဆိုသကဲ့သို့ ကျွန်ုပ်တို့ တောင်းဆိုထားသော တန်ခိုးပြာဋိဟာများကို ပြရမည်။ ဥပမာ-မက္ကာမြို့ရှိ တောင်များကို ဖယ်ရှားပြီး လယ်ယာလုပ်ကိုင်နိုင်ရန်အတွက် မြေပြန့်ဖြစ်အောင် လုပ်ပေးရမည်၊ သို့မဟုတ် သေဆုံးသွားပြီးဖြစ်ကြသောကျွန်ုပ်တို့၏ ဘိုး၊ ဘေး၊ တို့အား ပြန်လည်ရှင်ထစေပြီး ကျွန်ုပ်တို့နှင့် စကားပြောအောင် လုပ်ပေးရမည်ဟု တောင်းဆိုကြသည်။ ဆိုလိုသည်ကား- ကျွန်ုပ်တို့အား မလွဲမရှောင်သာ မယုံကြည်ဘဲ မနေနိုင်သည်အထိ ဖြစ်အောင် တန်ခိုးပြာဋိဟာ တစ်ပါးပါးကို ပြသရမည်ဟု ပြောကြသည်။

၎င်းတို့၏တောင်းဆိုချက်နှင့်စပ်လျဉ်း၍ ဖြေကြားထားတော်မူသည်မှာ အလ္လာဟ်အရှင်မြတ်သည် အရာရာကို ပြုနိုင်စွမ်းတော်မူသောအရှင် ဖြစ်တော်မူသည်၊ သို့ပြုစွမ်းနိုင်တော်မူသော်လည်း 'ဟစ်ကမတ်' ဉာဏ်တော်နှင့် မကိုက်ညီပါက ဖြည့်စွမ်းပေးတော်မူသည် မဟုတ်ချေ။

တမန်တော်တစ်ပါး ဟုတ်မှန်ကြောင်းနှင့် စပ်လျဉ်း၍ အခြေအနေအရ လိုအပ်သမျှသော သက်သေလက္ခဏာတော်များကို ပြသတော်မူပြီးဖြစ်သည်။ တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစ္စလ္လမ်)၏ နဗီဖြစ်မှု ဟုတ်မှန်ခြင်းနှင့်စပ်လျဉ်း၍ အခြားသက်သေလက္ခဏာများကို ထားဘိဦး၊ ကုရ်အာန်ကျမ်းမြတ် တစ်စောင်တည်းပင်လျှင် လုံလောက်ပေသည်။ သို့တစေလည်း ယင်းကာဖိရ်များသည် ထိုထိုသော သက်သေလက္ခဏာများကို တွေ့မြင်ကြရပါလျက် အမှန်တရားကို မနာခံကြပေ၊ ဤသို့ ထင်ရှားခိုင်လုံသော သက်သေလက္ခဏာများကို တွေ့မြင်ရပါလျက် မယုံကြည်ကြပါ၊ အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ မလှည့်ကြပါက ထိုအရှင်မြတ်သည် မိမိ၏ စွန္ဒတ်တော်အတိုင်း ၎င်းတို့အား ၎င်းတို့အလိုရှိရာ လမ်းလွဲမှားမှု၌ပင် ထားရှိတော်မူရန် ဆုံးဖြတ်ထားတော်မူသည်ဟူ၍ပင် ယူဆရပေတော့မည်။

အကယ်၍သာလျှင် ၎င်းတို့သည် အမြင်မှန်ရ၍ အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ လှည့်ကြပါက ထိုအရှင်မြတ်သည် မိမိ၏စွန္ဒတ်တော်အတိုင်း ၎င်းတို့အား တိုးတက်ကြီးပွားစေတော်မူ၍ အောင်မြင်မှု အစစ်အမှန်ရရှိရန် လမ်းစဉ်များကို မုချပြသတော်မူပေမည်။ ယခုမူ ယင်းကာဖိရ်များသည် မှန်ကန်သော တရားလမ်းစဉ်ကို ၎င်းတို့ကိုယ်တိုင်ကပင်လျှင် မလိုလားကြပေရာ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား တရားမှန်ကို လက်ခံရန် အတင်းအဓမ္မ ပြုတော်မမူလိုပေ။ သို့ဖြစ်ပေရာ ၎င်းတို့တောင်းဆိုသော တန်ခိုးပြာဋိဟာများကို ပြသရန်အကြောင်းပင် မရှိတော့ပေ။

ယင်းကာဖိရ်များတောင်းဆိုသော တန်ခိုးပြာဋိဟာများကို မပြသခြင်းသည် ၎င်းတို့အဖို့ အကောင်းပင် ဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် ယင်းကဲ့သို့တောင်းဆိုသော တန်ခိုးပြာဋိဟာကို ပြသတော်မူပြီးသည့်နောက် မလိုက်နာကြပါက အလ္လာဟ်အရှင်မြတ်သည် ယင်းသို့သောသူများအား လုံး၀ ကွပ်မျက် ဖျက်ဆီးပစ်တော်မူသည်သာ ဖြစ်ခြင်းကြောင့်ဖြစ်သည်။

ဟဒီးဆ်တော်၌ လာရှိသည်မှာ အလ္လာဟ်အရှင်မြတ်က 'အို-၊ မုဟမ္မဒ် (အကယ်၍ အသင်အလိုရှိလျှင် ငါအရှင်မြတ်သည် ကာဖိရ်များတောင်းဆိုသော တန်ခိုးပြာဋိဟာများကို ပြတော်မူမည်။ ယင်းသို့ပြသပြီးနောက်တွင် မလိုက်နာကြပါက ယခင်က လူသားတို့အား တစ်ကြိမ်တစ်ခါမျှ မပေးဘူးသော ပြစ်ဒဏ်မျိုးကို ငါအရှင်မြတ် ပေးတော်မူမည်ဖြစ်သည်။ အကယ်၍ အသင်အလိုရှိလျှင် 'တောင်ဗဟ်'နှင့် ကရဏာ၏တံခါးကို ဖွင့်ပေးထားတော်မူမည်' ဟုမိန့်ကြားတော်မူရာ တမန်တော်မြတ်က သို့ဖြစ်လျှင် တောင်ဗဟ်နှင့်ကရဏာ၏ တံခါးကို ဖွင့်ပေးထားတော်မူရန် လျှောက်ထား ပန်ကြားလေသည်။

ထိုသို့ တမန်တော်မြတ်က လျှောက်ထား ပန်ကြားခဲ့သည့်အတွက် အစ္စလာမ်သာသနာကို ➢➢

٢٨။ အကြင်သူတို့သည် သက်ဝင် ယုံကြည်ခဲ့ကြကုန်၏။ ၎င်းပြင် ထိုသူတို့၏ စိတ်နှလုံးများသည် အလ္လာဟ်အရှင်မြတ်အား အောက်မေ့ တသခြင်းဖြင့် ငြိမ်းအေး ကြည်နူး၍သွားလေသည်။ ကောင်းစွာ မှတ်ယူကြလေကုန်၊ အလ္လာဟ် အရှင်မြတ်အား အောက်မေ့တသခြင်းဖြင့် စိတ်နှလုံးများသည် ငြိမ်းအေးကြည်နူး၍ သွားသည်ချည်းသာတည်း။ [၁]

ٱلَّذِينَ ءَامَنُوا۟ وَتَطْمَئِنُّ قُلُوبُهُم بِذِكْرِ ٱللَّهِ ۗ أَلَا بِذِكْرِ ٱللَّهِ تَطْمَئِنُّ ٱلْقُلُوبُ ﴿٢٨﴾

၂၉။ အကြင်သူတို့သည် သက်ဝင်ယုံကြည်ခဲ့ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် ကောင်းမြတ်သော အကျင့်သီလများကိုလည်း ကျင့်မူဆောက်တည်ခဲ့ကြကုန်၏။ ထိုသူတို့အဖို့ *စိတ္တသုခ ကောင်းကြီးမင်္ဂလာ* သည်လည်းကောင်း၊ [၂] ထိုသူတို့အဖို့ (ဤပစ္စက္ခဘဝ၌) ကောင်းသော အခြေအနေသည်လည်းကောင်း၊ ကောင်းမြတ်သော (အကျိုးဆက်) ပြန်လည်ရာဌာနသည်လည်းကောင်း၊ ရှိချေသတည်း။

ٱلَّذِينَ ءَامَنُوا۟ وَعَمِلُوا۟ ٱلصَّٰلِحَٰتِ طُوبَىٰ لَهُمْ وَحُسْنُ مَـَٔابٍ ﴿٢٩﴾

---

➤➤ မလိုမုန်းတီး၍ယင်းသို့ တန်ခိုးပြဒ္ဒိဟာ တောင်းဆိုသူများအနက် အမြောက်အမြားသည်ပင်လျှင် နောက်ဆုံးတွင် အစ္စလာမ်အတွင်းသို့ရောက်ရှိလာခဲ့ကြလေသည်။

(၁) ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ် ဘက်တော်သို့ လှည့်သူများ၏အကြောင်းကို မိန့်ဆိုထားတော်မူသည်။ ၎င်းတို့သည် ထိုအရှင်မြတ်အား ယုံကြည်မြတ်နိုးကြသည်၊ ၎င်းတို့သည် ထိုအရှင်မြတ်အား အမြဲတစေ အောက်မေ့တသ သတိရကြသည်။ ယင်းသို့အောက်မေ့တသ သတိရကြသည့်အတွက် ၎င်းတို့၏ စိတ်နှလုံးများသည် အေးချမ်းငြိမ်သက်ကြည်နူးလျက်ရှိကြပေသည်။

လောကီစည်းစိမ်၊ ရာထူးဌာနန္တရ၊ တန်ခိုးအာဏာ စသည်တို့ဖြင့် စိတ်နှလုံးများ အေးချမ်း ကြည်နူးနိုင်သည်မဟုတ်၊ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရခြင်းဖြင့်သာလျှင် စိတ်နှလုံးများသည် အေးချမ်းကြည်နူးနိုင်ပေသတည်း။

အလ္လာဟ်အရှင်မြတ်အားအောက်မေ့တသ သတိရခြင်းဖြင့် စိတ်နှလုံးသည် ထိုအရှင်မြတ်မှတစ်ပါး အခြားဘက်သို့ မပျံ့လွင့်တော့ပေ။ 'ရှစ်ရ်က်' ဖြင့် စိတ်နှလုံးသည် ပျံ့လွင့်၏၊ 'တောင်ဟီးဒ်' သည် ယင်းသည့် ပျံ့လွင့်မှုကို တားဆီးပိတ်ပင်၍ အလ္လာဟ်အရှင်မြတ်အပေါ်၌သာ အာရုံစိုက်စေ၏။ တစ်စိတ်တစ်လက်တည်း ဖြစ်စေ၏။

အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသခြင်း၏ အကျိုးကား များပြားလှ၏၊ ထိုသည့်အကျိုးများတွင် ထိုအရှင်မြတ်အားကြောက်ရွံ့ရိုသေခန့်ညားခြင်းလည်း အပါအဝင်ဖြစ်သည်။ ကြည့်-ကုရ်အာန်(၈း၂)။ ➤➤

كَذٰلِكَ اَرۡسَلۡنٰكَ فِىۡۤ اُمَّةٍ قَدۡ خَلَتۡ مِنۡ قَبۡلِهَاۤ اُمَمٌ لِّتَتۡلُوَا۟ عَلَيۡهِمُ الَّذِىۡۤ اَوۡحَيۡنَاۤ اِلَيۡكَ وَهُمۡ يَكۡفُرُوۡنَ بِالرَّحۡمٰنِ‌ؕ قُلۡ هُوَ رَبِّىۡ لَاۤ اِلٰهَ اِلَّا هُوَ‌ۚ عَلَيۡهِ تَوَكَّلۡتُ وَاِلَيۡهِ مَتَابِ ۝٣٠

၃၀။ ဤနည်းအတိုင်းပင်ငါအရှင်မြတ်သည် အသင့်အား အကြင်လူမျိုးတစ်မျိုးထံသို့ ငါအရှင်မြတ်အသင့်ထံပို့တော်မူသော ကျမ်းဂန်ဒေသနာတော်ကို ၎င်းတို့ရှေ့ဝယ် ဖတ်ကြားအံ့သောငှာ စေလွှတ်တော်မူခဲ့၏။ [၁] ထိုလူမျိုးအလျှင်ကလည်း လူမျိုးအသီးသီးတို့သည် လွန်လေပြီးဖြစ်ကုန်၏။ သို့ရာတွင် ဤလူမျိုးများကား *ရဟ်မာန်(အနန္တကရုဏာတော်ရှင်)အား* [၂] သွေဖည် ငြင်းပယ်လျက်ပင် ရှိကြကုန်၏။

(အို-နဗီတမန်တော်)အသင်သည်(၎င်းတို့အား ဤသို့)ပြောကြားပါလေ၊ (အချင်းတို့) ထိုအရှင်မြတ်သည်သာလျှင် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်မှတပါး ခဝပ်ကိုးကွယ်ရာ အရှင်ဟူ၍ အလျှင်းမရှိပေ။ ထိုအရှင်မြတ်အပေါ်၌သာလျှင် ငါသည် လုံးဝ အားကိုးအားထား ယုံပုံလွှဲအပ်ခဲ့လေပြီ။ ထိုမှတစ်ပါး ထိုအရှင်မြတ်ထံသို့ပင် ငါသည် ပြန်လည်၍သွားရမည် ဖြစ်သတည်း။

➤➤ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသသတိရခြင်းအားဖြင့် စိတ်နှလုံးသည် တစ်ဖက်တွင် ထိုအရှင်မြတ်အား ကြောက်ရွံ့ခန့်ညားလာ၏။ အခြားတစ်ဖက်တွင် ထိုအရှင်မြတ်မှတစ်ပါး အရာခပ်သိမ်းတို့ဘက်မှ စိုးရိမ်ကြောက်ရွံ့မှု ကင်းလာ၏။ စိတ်ချလာ၏။ ဤသည့် ဖြစ်ရပ်နှစ်ခုသည် အချင်းချင်းဆန့်ကျင်သည် မဟုတ်သည်သာမက တစ်ခုကို တစ်ခု အထောက်အမပြုလျက်ပင်ရှိသည်။ ပြည့်စုံစေလျက်ပင် ရှိပေသည်။ ကြည့်-မာဂျိဒီ။

(၂) ဤအာယတ်တော်တွင် ပါရှိသည့် (طوبىٰ) 'တူဗာ' ဟူသောပုဒ်ကို မုဖတ်စ်စစ်ရ်များသည် အမျိုးမျိုး အနက်ဖွင့်ကြပေသည်။

'တူဗာ' ဟူသည် ဂျန္နတ်အတွင်းရှိ အပင်တစ်ပင်၏ အမည်ဖြစ်သည်။ အဆိုတစ်ရပ်ရှိသည်မှာ- 'တူဗာ' ဟူသည် ပျက်စီးမှုမရှိသည့် တည်မြဲခြင်း။ ပျက်စီးမှုမရှိသည့် ဂုဏ်သိန်၊ ဆင်းရဲမှုမရှိသည့် ချမ်းသာကြွယ်ဝခြင်း . . . အစရှိသည့် ဂျန္နတ်ရှိကောင်းမြတ်သော အရာအားလုံးကို ရည်ညွှန်းသည်။ ရာဃိဗ်။

(၁) အလ္လာဟ်အရှင်မြတ်သည် မိမိ၏ဘက်တော်သို့ လှည့်သောသူများအား အောင်မြင်ရန်လမ်းမှန်ကို ပြတော်မူသကဲ့သို့၊ ထိုအရှင်မြတ်သည် မိမိ၏ အနန္တကရုဏာတော်ဖြင့် အရဗ်အမျိုးသားတို့အား ကုရ်အာန်ကျမ်းလာဒေသနာတော်များကို ဟောပြောနိုင်ရန်အတွက် ၎င်းတို့ထံသို့ တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား စေလွှတ်တော်မူခဲ့သည်။



٣١။ စင်စစ်မူကား အကယ်၍သာ အကြင်ကဲ့သို့သော *ကုရ်အာန်တစ်စောင်သည်* ^၁ ရှိခဲ့အံ့။ ထိုကုရ်အာန်ဖြင့် တောင်များသည် လွှဲဖယ်ရွေ့ပြောင်းခြင်းကို ခံကြရသည်ဖြစ်စေ၊ သို့တည်းမဟုတ် ထိုကုရ်အာန်ဖြင့် ပထဝီမြေသည် အက်ကွဲစေခြင်းကို ခံရသည်ဖြစ်စေ၊ သို့တည်းမဟုတ် ထိုကုရ်အာန်ဖြင့် သူသေများသည် စကားပြောဆိုစေခြင်းကို ခံကြရသည်ဖြစ်စေ၊ (သို့ဖြစ်ငြားလည်း ၎င်းတို့သည် အလျှင်းသက်ဝင် ယုံကြည်ကြမည် မဟုတ်ပေ)။ ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာမူကား အလုံးစုံသောအမိန့်အာဏာတို့သည် အလ္လာဟ်အရှင်မြတ်၌သာရှိချေသည်။

وَلَوْ أَنَّ قُرْآنًا سُيِّرَتْ بِهِ الْجِبَالُ أَوْ قُطِّعَتْ بِهِ الْأَرْضُ أَوْ كُلِّمَ بِهِ الْمَوْتَىٰ ۗ بَل لِّلَّهِ الْأَمْرُ جَمِيعًا ۗ أَفَلَمْ يَيْأَسِ الَّذِينَ آمَنُوا أَن لَّوْ يَشَاءُ اللَّهُ لَهَدَى النَّاسَ جَمِيعًا ۗ وَلَا يَزَالُ الَّذِينَ كَفَرُوا تُصِيبُهُم بِمَا صَنَعُوا قَارِعَةٌ أَوْ تَحُلُّ قَرِيبًا

---

➤➤ တမန်တော်မြတ်အား ယခုကဲ့သို့ စေလွှတ်တော်မူခြင်းမှာ အထူးအဆန်းမဟုတ်ပေ၊ အဘယ့်ကြောင့်ဆိုသော် အတိတ်ခေတ်များတွင် အလ္လာဟ်အရှင်မြတ်သည် လူမျိုးအသီးသီးထံသို့ တမန်တော်များကို စေလွှတ်တော်မူခဲ့၏၊ သို့ဖြစ်ပေရာ ထိုထိုသော အမျိုးသားတို့အနက် တမန်တော်များ၏ အဆုံးအမများကို သွေဖည်ငြင်းဆန်မနာခံသူများသည် ပြစ်ဒဏ်သင့်၍ မည်သို့မည်ပုံဆုံးရှုံး ပျက်စီးသွားရခဲ့ကြသည်များကို လက်ရှိအမျိုးသားများသည် သိထားသင့်ကြပေသည်။

(၂) အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော (الرحمٰن) 'အလ်ရဟ်မာန်' (ဝါ) အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကရုဏာတော်ဖြင့် ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန် ချမှတ်တော်မူခဲ့သည်။ တမန်တော်မြတ်အားလည်း ကမ္ဘာသူကမ္ဘာသားတို့အား ကရုဏာပွားများရန်အတွက် 'ကမ္ဘာ့ကရုဏာတော်ရှင်' အဖြစ်နှင့် စေလွှတ်တော်မူခဲ့သည်။ သို့တစေလည်း ယင်းအရပ်အမျိုးသားတို့အနက် ကာဖိရ်များသည် ကျေးဇူးမသိတတ်ကြပေ၊ ကျေးဇူးကန်းကြပေသည်။ ယုတ်စွအဆုံး 'ဟုဒိုင်ဗိယဟ်' ငြိမ်းချမ်းရေးစာချုပ် ချုပ်ဆိုရာတွင် တမန်တော်မြတ်က 'အလ်ရဟ်မာန်' ဟူသောဂုဏ်တော်ကို ထည့်ပြီး (بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ) ဟူ၍ ရေးသည့်အတွက် ယင်းကာဖိရ်များသည် အငြင်းအခုံ ပြုခဲ့ကြပေသည်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၂၅း၆၀)တွင်လည်း မိန့်ဆိုထားတော်မူသည်။ ကာဖိရ်များသည် 'အလ်ရဟ်မာန်' အား ငြင်းဆိုကြသော်လည်း တမန်တော်မြတ်ကမူ 'ထိုသည့် အလ်ရဟ်မာန်' သည်ပင် အလ္လာဟ်အရှင်မြတ် ဖြစ်တော်မူသည်၊ ထိုအရှင်မြတ်သည် ဂုဏ်တော်အပေါင်းနှင့် ပြည့်စုံတော်မူသည်။ ထိုအရှင်မြတ်သည် ကျွန်ုပ်၏အရှင်ဖြစ်တော်မူသည်၊ ထိုအရှင်မြတ်မှတစ်ပါး အခြားကိုးကွယ်ရာဟူ၍ အလျှင်းမရှိ၊ ကျွန်ုပ်သည် ထိုအရှင်မြတ်အားသာလျှင် ယုံပုံအားထားသည်ဟု ဖြေကြားတော်မူလိုက်လေသည်။

**မှတ်ချက်။** 'အလ်ရဟ်မာန်' သည် အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်တစ်ပါးပင်ဖြစ်သည်။

ကြည့်-ကုရ်အာန်(၁၇း၁၁၀)။

(၁) ဤအာယတ်တော်တွင်ပါရှိသော 'ကုရ်အာန်' ဟူသည် Common noun = ဝေါဟာရ နာမ်အဖြစ်သုံးနှုန်းထားတော်မူခြင်းသာဖြစ်သည်။ ဥပမာ-ဟဒီးဆ်ဆွဟီဟ် တစ်ခုတွင် ကုရ်အာန်ကျမ်းမြတ်ကိုပင် ➤➤

مِّنْ دَارِهِمْ حَتّٰى يَأْتِيَ وَعْدُ اللّٰهِ ۭ اِنَّ اللّٰهَ لَا يُخْلِفُ الْمِيْعَادَ ۝۳۱

သို့ပါလျက် မုအ်မင်န် သက်ဝင်ယုံကြည်သူတို့သည် 'အကယ်၍ အလ္လာဟ်အရှင်မြတ် အလိုတော်ရှိပါလျှင် မလွဲဧကန်ထိုအရှင်မြတ်သည် လူခပ်သိမ်းတို့အား *တရားလမ်းမှန်သို့ ပို့တော်မူခဲ့မည်ဖြစ်ကြောင်း*' မသိခဲ့ကြလေသလော။

---

➢➢ 'ဇဗူရ်' ဟူ၍ သုံးနှုန်းထားသည်ကိုတွေ့ရှိရပေသည်။

ဆိုလိုသည်ကား အကယ်၍ အကြင်သို့သော ကျမ်းဂန်တစ်စောင်ကို ထုတ်ပြန်ချမှတ်တော်မူသည်ရှိသော်၊ ထိုကျမ်းဂန်ဖြင့် ကာဖိရ်များ တောင်းဆိုကြသည့် တန်ခိုးပြာဋိဟာများဖြစ်ပေါ်လာနိုင်သည်ရှိသော်၊ ထိုကျမ်းဂန်သည် ဤကုရ်အာန်ကျမ်းဂန်အပြင် အဘယ်ကျမ်းဂန်ဖြစ်နိုင်အံ့နည်း။

ဤကုရ်အာန်ကျမ်းမြတ်သည် နာမ်သဘောအားဖြင့်၊ စိတ်ဓါတ်သဘောအားဖြင့်၊ တောင်များသဖွယ် မာကျောခဲယဉ်းသော စိတ်နှလုံးများကိုပင် နူးညံ့သိမ်မွေ့စေခဲ့၏၊ လူသားတို့၏ စိတ်နှလုံးတည်းဟူသောမြေကို ခွဲစိတ်ပြီး အလ္လာဟ်အရှင်မြတ်အား သိခြင်းတည်းဟူသော စမ်းရေချောင်းများကို စီးတွေစေခဲ့၏၊ အလ္လာဟ်အရှင်မြတ် ထံတော်ပါးသို့ ရောက်နိုင်ရန်ခရီးမှာ အလွန့်အလွန် ရှည်လျား ဝေးကွာလှသော်လည်း ထိုသည့်ခရီးလမ်းကို အချိန်အနည်းငယ်ဖြင့် ရောက်ရှိနိုင်ရန်အတွက် အဆိုပါခရီးကို တိုတောင်းစေခဲ့၏။ သေနေသော အမျိုးသားများ၏ စိတ်နှလုံးများတွင်လည်း အမတအသက်ကို ထည့်သွင်းပေးပြီး အမြဲတစေ ရှင်စေခဲ့၏၊ ဤကဲ့သို့ ဂုဏ်ထူးဝိသေသများနှင့်ပြည့်စုံသော ကုရ်အာန်ကျမ်းမြတ်ဖြင့်ပင်လျှင် တရားမရသောသူများသည် အကယ်တန္တု ၎င်းတို့တောင်းဆိုသော တန်ခိုးပြာဋိဟာများကို တွေ့မြင်ကြပါက အီမာန်ယုံကြည်ကြလိမ့်မည်။ ရေးယခင်ကဲ့သို့ အငြင်းအခုံ ပြုကြတော့မည်မဟုတ်ဟု အသို့လျှင် ယုံကြည်နိုင်အံ့နည်း ယင်းကာဖိရ်များသည် အလွန် ဦးခေါင်းမာသော သွေဖည်ရေးသမားများသာ ဖြစ်ကြလေသည်။ ၎င်းတို့သည် အဘယ်မျှကြီးမားသော တန်ခိုး ပြာဋိဟာကိုပင် မြင်ရလင့်ကစား ဘယ်သောအခါ၌မျှ အီမာန်ယုံကြည်ကြမည်မဟုတ်ပေ။

ကြည့်-ကုရ်အာန် (၆း၂၅။ ၇း၁၄၆)။

အမှန်မှာ အရေးကိစ္စအဝဝ (တရားရခြင်း၊ တရားမရခြင်း)တို့သည် အလ္လာဟ်အရှင်မြတ်၏လက်တော် အတွင်း၌သာ ရှိပေသည်။ ထိုအရှင်မြတ်၏ အလိုတော်အတိုင်းသာ ဖြစ်ပေသည်။ ထိုအရှင်မြတ် အလိုတော်မရှိသော သူတစ်ဦးသည် ကိယာမတ်တိုင်အောင် တရားရမည်မဟုတ်ပေ။ ထိုအရှင်မြတ်သည်လည်း တရားမှန်ကို မိမိကိုယ်တိုင်က လိုလားသူအားသာလျှင် လိုလားတော်မူပေသည်။

မှတ်ချက်။

( اَوْ قُطِّعَتْ بِهِ الْاَرْضُ )၏အဓိပ္ပါယ်ကို အချို့က ဤကျမ်းတွင် ပြန်ဆိုထားသည့်အတိုင်း ပြန်ဆိုရေးသားကြသည်။ အချို့ကမူ 'သို့တည်းမဟုတ် ထိုကုရ်အာန်ဖြင့် မြေပြင်တွင် လျှင်မြန်စွာ ခရီးသွားနိုင်ရမည်' ဟူ၍ ဘာသာပြန်ဆိုကြသည်။

(၂) အရဗ် ကာဖိရ်များက တန်ခိုးပြာဋိဟာများ တောင်းဆိုလာကြသည့်အခါ အချို့မွတ်စ်လင်မ်များ၏ စိတ်တွင် ယင်းကာဖိရ်များ၏ တောင်းဆိုချက်များကို တစ်ကြိမ်လောက်လိုက်လျောပြီး ဖြည့်စွမ်းပေးလိုက်ပါက၊ ထိုကာဖိရ်များသည် အီမာန်ယုံကြည်ကောင်း ယုံကြည်လာကြပေမည်ဟူသော အာသာဆန္ဒ ဖြစ်ပေါ်လာခဲ့၏။ ➢➢

အမှန်စင်စစ်မှာမူကား သွေဖည် ငြင်းပယ်ခဲ့ကြကုန်သောသူတို့၌ ၎င်းတို့၏ အပြုအမူများကြောင့် အတိဒုက္ခတစုံတရာသည် ဆိုက်ရောက်မြဲ ဆိုက်ရောက်လျက်ပင် ရှိပေသည်၊ သို့တည်းမဟုတ် ၎င်းတို့၏ မြို့ရွာ၏အနီး (ပတ်ဝန်းကျင်)၌ပင် အမြဲမပြတ် သက်ရောက်လျက်ရှိလေသည်။ နောက်ဆုံးတွင်မူ အလ္လာဟ်အရှင်မြတ် ချိန်းချက်ထားတော်မူသော *ပြစ်ဒဏ်သည် ရောက်ရှိလာပေမည်။* [၁] ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် (မိမိ) ချိန်းချက်ထားတော်မူသောကတိကို အလျှင်း ဖောက်ဖျက်တော်မူသည် မဟုတ်ပေ။

---

➤➤ ဤအာယတ်တော်တွင် ထိုသို့သော မွတ်စ်လင်မ်တို့အား ရည်ညွှန်း ဖြေကြားထားတော်မူသည်မှာ အကယ်၍ အလ္လာဟ်အရှင်မြတ် အလိုတော်ရှိပါလျှင် တစ်စုံတစ်ရာ တန်ခိုးပြာဋိဟာ ပြတော်မမူဘဲလျက်နှင့်လည်း အားလုံးတို့အား တရားလမ်းမှန်သို့ရောက်အောင် ပြုစွမ်းတော်မူနိုင်သည်၊ သို့သော် ဤသို့ပြုခြင်းမှာ ထိုအရှင်မြတ်၏ ဓလေ့တော်နှင့် ဆန့်ကျင်နေပေသည်။ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား မိမိတို့၏ စိတ်သဘောအတိုင်း လွတ်လပ်စွာ ယုံကြည်ကိုးကွယ်ခွင့် ပြုထားတော်မူသည်။ ထို့ပြင်တစ်ဝ တရားလမ်းမှန် ရရှိနိုင်ရန်အတွက် အကြောင်းတရားများကိုလည်း လုံလောက်စွာ ပြုလုပ်ထားတော်မူသည်။

သို့ဖြစ်ပေရာ ယင်းကာဖိရ်များ၏ တောင်းဆိုချက်များကို ဖြည့်စွမ်းပေးတော်မူရန်အကြောင်းပင် မရှိတော့ပေ။ ကာဖိရ်များသည် ဤသို့ အကြောင်းများခိုင်လုံပါလျက် မလိုမုန်းတီး၍ ၎င်းတို့တောင်းဆိုသော တန်ခိုးပြာဋိဟာများ ကိုတွေ့မြင်ကြရမှသာ အီမာန်ယုံကြည်ကြမည်ဟု မိုက်မဲစွာ ပြောဆိုနေကြပါက အလ္လာဟ်အရှင်မြတ်ကလည်း လူသားအားလုံးတို့အား တစ်ယောက်မကျန် တရားလမ်းမှန်သို့ မုချပို့ဆောင်တော်မူမည်ဟူ၍ ဆုံးဖြတ်ထားတော် မူသည်မဟုတ်ပေ။ ကုရ်အာန်ကျမ်းလာ အာယတ်တော် (၇:၁၈။ ၁၁:၁၁၉။ ၃၂:၁၃။ ၃၈:၈၅)သည်လည်း လက်တွေ့ အကောင်အထည်ပေါ်မည်ဖြစ်ရာ ဤသို့သော သူမိုက်များလည်းရှိနေရပေဦးမည်မှာ မလွဲဧကန်တည်း။

(၁) (က) မက္ကာမြို့သား ကာဖိရ်များသည် ၎င်းတို့တောင်းဆိုသော တန်ခိုးပြာဋိဟာများကို တွေ့မြင်ကြရသော်လည်း နာခံကြမည့်သူများ မဟုတ်ကြပေ။ ၎င်းတို့အပေါ်၌သော်လည်းကောင်း၊ ၎င်းတို့၏ အနီးအနားရှိသူများ အပေါ်၌သော်လည်းကောင်း၊ ဘေးအန္တရာယ် တစ်ခုမဟုတ်တစ်ခု ကျရောက်နေမှသာလျှင် နာခံကြမည်ဖြစ်သည်။ ဥပမာ– ၎င်းတို့သည် မွတ်စ်လင်မ်များနှင့်စစ်ဖြစ်၍ အသတ်ခံနေကြရလျှင်၊ လက်ရဖမ်းဆီး ချုပ်နှောင်ခြင်းခံကြရလျှင်၊ သို့မဟုတ် အခြား တစ်စုံတစ်ရာဘေးအန္တရာယ်နှင့် တွေ့ဆုံနေကြရလျှင်၊ ၎င်းတို့သည် နောင်တရကြပေမည်၊ နာခံကြပေမည်။

မက္ကာမြို့သား ကာဖိရ်များသည် ဤသို့အားဖြင့် ဘေးအန္တရာယ် တစ်ခုသို့မဟုတ်တစ်ခုနှင့် ➤➤

၃၂။ ၎င်းပြင် စင်စစ်ဧကန် အသင်၏အလျင်လည်း ရစူလ်တမန်တော်များသည် ပြက်ရယ်သမှုပြုခြင်းကို ခံခဲ့ကြရကုန်၏။ သို့ပါလျက် ငါ အရှင်မြတ်သည် ကာဖိရ် သွေဖည်ငြင်းပယ်ကြကုန်သော သူတို့အား ရွှေ့ဆိုင်းခွင့် *ပေးတော်မူခဲ့လေသည်။* [၁] ထို့နောက် ငါအရှင်မြတ်သည် ၎င်းတို့အား ဖမ်းဆီးကွပ်မျက်တော်မူခဲ့လေသည်။ သို့ဖြစ်ပေရာ ငါအရှင်မြတ်၏ ပြစ်ဒဏ်သည်အသို့ရှိခဲ့ပါသနည်း။(အလွန်ပြင်းထန်ခဲ့ပေသည်)။

وَلَقَدِ اسْتُهْزِئَ بِرُسُلٍ مِّن قَبْلِكَ فَأَمْلَيْتُ لِلَّذِينَ كَفَرُوا ثُمَّ أَخَذْتُهُمْ فَكَيْفَ كَانَ عِقَابِ ﴿٣٢﴾

၃၃။ တစ်ဖန်လူတိုင်းလူတိုင်း မည်သည်ကို ပြုလုပ်ကြသည်ကို *သိရှိတော်မူသောအရှင်မြတ်သည်* [၂] (အခြား မဟုတ်မမှန်သော ကိုးကွယ်ခံများနှင့် တူနိုင်တော်မူပါမည်လော)။ သို့ရာတွင် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၌ နိူင်းယှဉ်ဘက်များကို ပြုလုပ်ခဲ့ကြလေသည်။ အသင်သည် (၎င်းတို့အား ဤသို့) ပြောကြားပါလေ၊ (အချင်းတို့) အသင်တို့သည် ၎င်းတို့၏ *ဂုဏ်အရည်အချင်းကို (ငါ့အား) ပြော၍ပြကြလေကုန်၊* [၃]

أَفَمَنْ هُوَ قَائِمٌ عَلَىٰ كُلِّ نَفْسٍ بِمَا كَسَبَتْ ۗ وَجَعَلُوا لِلَّهِ شُرَكَاءَ قُلْ سَمُّوهُمْ ۚ أَمْ تُنَبِّئُونَهُ بِمَا لَا يَعْلَمُ فِي الْأَرْضِ أَم بِظَاهِرٍ مِّنَ الْقَوْلِ ۗ بَلْ زُيِّنَ لِلَّذِينَ كَفَرُوا

---

➤➤ တွေ့ကြုံနေကြရမည်သာဖြစ်သည်။ နောက်ဆုံးတွင် ၎င်းတို့ထံသို့ အလ္လာဟ်အရှင်မြတ်၏ ကတိတော် ရောက်ရှိလာပေမည်။ ထိုအရှင်မြတ်၏ ကတိတော်ဟူသည် မွတ်စ်လင်မ်များသည် မက္ကာမြို့တော်ကို အောင်နိုင်ကြလိမ့်မည်။ အာရေဗျကျွန်းဆွယ်တစ်ခုလုံးသည်လည်း 'ကုဖ်ရ်'၊ 'ရှရစ်က်' မိစ္ဆာ အမှု အစုစုတို့နှင့် လုံး၀ ကင်းရှင်းသွားလိမ့်မည်။

(၁) တမန်တော်မြတ်အလျင် အတိတ်ခေတ်များတွင် တမန်တော်များ အသီးသီးပွင့်ခဲ့ကြသည်။ ထိုထိုသော တမန်တော်များသည်လည်း ကာဖိရ်၊ မုရှ်ရစ်က်တို့၏ ပြက်ရယ်သမှု ပြုခံခဲ့ကြရသည်။ ကာဖိရ် မုရှ်ရစ်က်တို့ကား ကမ္ဘာ့သက်တမ်းတစ်လျှောက်လုံးတွင် ဆိုးမိုက်ခဲ့ကြသည်သာဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် ယင်းသို့သော သူမိုက်တို့အား ပြစ်မှုကျူးလွန်ကြသည့်အခါ ရုတ်တရက် ချက်ချင်း ပြစ်ဒဏ်ပေးတော်မူလေ့မရှိပေ။ စဉ်းစားဆင်ခြင်၍ သတိသံဝေဂ နောင်တရနိုင်ကြရန်အတွက် အချိန်ကာလ အတန်ကြာသည်အထိ လျစ်လျူပြုထားတော်မူလေ့ရှိသည်။ယင်းသို့ လျစ်လျူပြုထားတော်မူပါလျက် သတိသံဝေဂမရဘဲ ဆိုးမြဲဆိုးမိုက်နေကြသည်ရှိသော် အလ္လာဟ်အရှင်မြတ်သည် နောက်ဆုံးတွင် ပြင်းထန်စွာ ပြစ်ဒဏ်ပေးတော်မူသည်ဖြစ်သည်။ ဤသို့ ပြစ်ဒဏ်ပေးတော်မူခြင်းကို ခံခဲ့ရသော သူမိုက်တို့၏ အဖြစ်အပျက် ➤➤

➤➤ သမိုင်းစဉ်တို့သည် ကမ္ဘာတွင် အထင်အရှားပင်။

အလ္လာဟ်အရှင်မြတ်သည် သူ့မိုက်တို့အား လျစ်လျူပြုတော်မူသည်ကားမှန်၏။ သို့ရာတွင် လျစ်လျူပြုတော်မူခြင်းအတွက် အချိန်ကာလ အပိုင်းအခြားလည်းရှိသည်။ အမြဲထာဝစဉ် လျစ်လျူပြု ထားတော်မူသည်မဟုတ်၊ လျစ်လျူပြုတော်မူခြင်း၏ အချိန်ကုန်ဆုံးသည့်နောက်ပိုင်းတွင် ပြစ်ဒဏ်ခတ်ရန်အချိန်သည် စတင်ရောက်ရှိလာပေတော့သည်။ ထိုအချိန်တွင်မူကား နောင်တရခြင်း၊ အကြောင်းပြခြင်း၊ အသနားခံခြင်းတို့ကား အကျိုးမရှိတော့ပေ။ ယနေ့ ကာဖိရ်၊ မုရှ်ရစ်က်တို့သည်လည်း ဤသည့်ဖြစ်ရပ်များကို နှလုံးသွင်းကာ အချိန်မီနောင်တရသင့်ကြပြီ။

ဤသည့်သဘောကို ကုရ်အာန်(၂၂း၄၈)တွင်လည်း မိန့်ဆိုထားတော်မူသည်။

၂ အလ္လာဟ်အရှင်မြတ်သည် လူသားအားလုံးတို့၏ အပြုအမူဟူသမျှတို့ကို အခါခပ်သိမ်း ကြည့်ရှုတော်မူလျက်ရှိသည်၊ ထိုအရှင်မြတ်သည် မျက်စိတစ်မှိတ် လျှပ်တပြက်မျှ မေ့နေတော်မူသည်ဟူ၍ကား အလျင်းမရှိ၊ မည်သူ့အားမဆို ပြစ်မှုကျူးလွန်က ထိုအရှင်မြတ်သည် အချိန်မဆိုင်းဘဲ ရုတ်တရက် ချက်ချင်း သတ်ပေးတော်မူနိုင်သည်။ အပြစ်ပေးတော်မူနိုင်သည်၊ မည်သူတစ်ဦးတစ်ယောက်မျှ ထိုအရှင်မြတ်၏ လက်တော်အတွင်းမှ ထွက်ပြေး လွတ်မြောက်နိုင်သည်ဟူ၍ အလျင်းမရှိပေ၊ ထိုအရှင်မြတ်၏ ဉာဏ်တော်၊ တန်ခိုးတော်များကား အနန္တောအနန္တတည်း။

လူသားတို့ မိမိတို့ကိုယ်တိုင် မိမိတို့၏လက်များဖြင့် ပြုလုပ်ထားသော ရုပ်တု၊ ရုပ်လုံး၊ ကျောက်တုံးများသည် ထိုအရှင်မြတ်နှင့်အသို့လျှင် ဂုဏ်ရည်တူဖြစ်နိုင်အံ့နည်း၊ ထိုအရာများသည် ကြားသည်လည်းမဟုတ်၊ မြင်သည်လည်းမရှိ၊ သူတစ်ပါး၌ ကျိုးပြစ်တစ်စုံတစ်ရာဖြစ်ပေါ်စေရန်ဝေးစွ၊ မိမိတို့ကိုယ်၌ကိုပင်လျှင် တစ်စုံတစ်ရာကျိုးပြစ် ပေးနိုင်ကြသည်ဟူ၍ အလျှင်းမရှိ၊ ယုတ်စွအဆုံး ထိုအရာများသည် မိမိတို့ရှိသည်ကိုပင် မိမိတို့အလျှင်းမသိကြပေ။ အနန္တောအနန္တ တန်ခိုးတော်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ် ရှိတော်မူပါလျက် ကာဖိရ်၊ မုရှ်ရစ်က်များသည် မိမိတို့ကိုယ်တိုင် မိမိတို့လက်များဖြင့် ပြုလုပ်ထားသည့် အဘယ်တစ်စုံတစ်ရာ စွမ်းရည်သတ္တိ အလျှင်းမရှိသော ထိုအရာများကို ကိုးကွယ်ရာများအဖြစ် မှတ်ယူကိုးကွယ်နေကြခြင်းမှာ အံ့မဆုံးပင်ဖြစ်တော့၏။ ထို့ပြင်တစ်ဝ ထိုသို့သောအရာများကို အလ္လာဟ်အရှင်မြတ်နှင့် ဂုဏ်ရည်တူအဖြစ် ထားရှိကိုးကွယ်ခြင်းမှာ ဤထက်ကြီးမားသော မိုက်မဲမှု၊ စော်ကားမှုကား အဘယ်မှာလျှင်ရှိနိုင်အံ့နည်း။

အလ္လာဟ်အရှင်မြတ်သည် အလုံးစုံကို သိတော်မူသော အရှင်ဖြစ်တော်မူသည်၊ လူသားတို့ ပြုမူကျင့်ကြံကြသည်တို့ကို အကြွင်းမဲ့သိတော်မူသည်၊ ကာဖိရ်၊ မုရှ်ရစ်က်များ မိုက်မဲစွာ ကျူးလွန်နေကြသည်များကိုလည်း အကြွင်းမဲ့သိတော်မူသည်။ သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် အပြစ်ရှိသူတို့အား အပြစ်ရှိသည့်အလျောက် အနေးနှင့်အမြန် ပြစ်ဒဏ်ပေးတော်မူမည်မှာ မလွဲဧကန်အမှန်တည်း။

၃ ကာဖိရ်၊ မုရှ်ရစ်က်တို့သည် အခြေအမြစ်လုံးဝမရှိသော အရာများကိုပင် အလ္လာဟ်အရှင်မြတ်နှင့် ဂုဏ်ရည်တူ ပြုလုပ်ကာ ကိုးကွယ်နေကြသည်၊ ၎င်းတို့၏ ကိုးကွယ်ရာများ၌ တစ်စုံတစ်ရာ အခြေအမြစ်မရှိကြောင်း၊ စွမ်းရည်သတ္တိ အလျှင်းမရှိကြောင်းကို ထင်ရှားစေရန်အတွက် ဤအာယတ်တော်တွင် ယင်းကာဖိရ်၊ မုရှ်ရစ်က်တို့အား 'အသင်တို့သည် ထိုကိုးကွယ်ရာများ၏ ဂုဏ်အင်ဒြပ်များကို ပြောပြကြ' ဟု မေးမြန်းစေတော်မူထားသည်၊ ကာဖိရ်၊ မုရှ်ရစ်က်များသည် အလ္လာဟ်အရှင်မြတ်၏ ထိုထိုသော အနန္တတန်ခိုးတော်များကို သိထားကြရာ အသို့လျှင် ဖြေကြားနိုင်အံ့နည်း၊ ၎င်းတို့သည် မိမိတို့ကိုယ်တိုင် ပြုလုပ်ဖန်တီးထားသည့် အခြေအမြစ်မရှိသော စွမ်းရည်သတ္တိမရှိသော အရာများ၏ မရှိသော ဂုဏ်ရည်များကို အသို့လျှင် ထုတ်ဖော်ပြောကြားနိုင်ကြအံ့နည်း။ အကယ်တန္တု၊ အရှက်ကင်းမဲ့စွာဖြင့် 'လာတ်'၊ 'မနာတ်' စသည့် အမည်ခံ ဘုရားများ၏ အမည်များ၊ ➤➤

مَكْرُهُمْ وَصُدُّوا عَنِ السَّبِيلِ ۗ وَمَن يُضْلِلِ اللَّهُ فَمَا لَهُ مِنْ هَادٍ ⑬

*ထိုအရှင်မြတ် သိတော်မမူသောအရာများကို ကြားသိစေကြလေသလော၊* [၁] သို့တည်းမဟုတ် (ယင်းကိုးကွယ်ရာများကို) *အပေါ်ရိုကအားဖြင့်သာ* [၂] (ကိုးကွယ်ရာများဟူ၍) ပြောဆိုခြင်းဖြစ်လေသလော၊ ထိုသို့အလျှင်းမဟုတ်စင်စစ်မှာကား ကာဖိရ် သွေဖည်ငြင်းပယ်ကြကုန်သော သူတို့၏အမြင်၌ ၎င်းတို့၏ လျှို့ဝှက်ကြံစည်မှုသည် လှပတင့်တယ်အောင်ပြုလုပ်ပြီးဖြစ်ပေသည်။ ထို့အတွက်ကြောင့်လည်း ၎င်းတို့သည် (မှန်ကန်သောတရား)လမ်းမှလည်း တားဆီးခြင်း ခံခဲ့ရလေသည်။

➤➤ ဂုဏ်ရည်များကို ထုတ်ဖော်ပြောကြားပါကလည်း ဉာဏ်အမြော်အမြင် ရှိသူများသည် ယုံကြည်ကြမည်မဟုတ်၊ ရယ်ကြမည်သာဖြစ်ပေသည်။ အွတ်ဆ်မာနီ။

(၁) အလ္လာဟ်အရှင်မြတ်သည် အလုံးစုံကို သိတော်မူသောအရှင် ဖြစ်တော်မူသည်။ ကမ္ဘာအဝန်း၌ ရှိရှိသမျှသော အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့သိတော်မူသည်။ ကမ္ဘာအဝန်း၌ ထိုအရှင်မြတ်နှင့် ဂုဏ်ရည်တူ တွဲဖက်ယှဉ်ဖက် တစ်ဦးတစ်ယောက်မျှမရှိ။ ထိုအရှင်မြတ်သည် (မပြောကောင်းမဆိုအပ်) မိမိ၌ တွဲဖက်ယှဉ်ဖက်ရှိသည်ကိုမသိ၊ ထိုအရှင်မြတ်မသိတော်မူသောအရာသည် မရှိသောအရာသာ ဖြစ်သည်။

'အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကမ္ဘာမြေပြင်၌ ထိုအရှင်မြတ် (မပြောကောင်းမဆိုအပ်) မသိသောအရာကို ပြောပြနေကြသလော' ဟု မိန့်ဆိုထားတော်မူခြင်းမှာ ကာဖိရ်၊ မုရှ်ရစ်က်တို့ မိမိတို့ကိုယ်တိုင် ပြုလုပ်ဖန်တီး၊ ကိုးကွယ်နေကြသော ကိုးကွယ်ရာများသည် အလ္လာဟ်အရှင်မြတ်နှင့်ဂုဏ်ရည်တူ တွဲဖက်ယှဉ်ဖက် အလျှင်းမဟုတ်ကြောင်း၊ ဦးနှောက်တွင်မျှ ထည့်သွင်းစဉ်းစား အပ်သောအရာမဟုတ်ကြောင်း စကားလုပ်၍ ပြောဆိုရမည့်အရာပင် မဟုတ်ကြောင်းကို ထင်ရှားစေရန်ပင်ဖြစ်ပေသည်။

ဤအာယတ်တော်တွင် 'ကမ္ဘာမြေပြင်၌' ဟု မိန့်ဆိုထားတော်မူခြင်းမှာ ကာဖိရ်၊ မုရှ်ရစ်က်တို့၏ ယူဆချက်အရ ၎င်းတို့၏ ကိုးကွယ်ရာများ၏ တည်ရှိရာဌာနသည် ကမ္ဘာမြေပြင်သာဖြစ်သည့်အတွက် ယင်းသို့ မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

(၂) အထက်တွင်ကာဖိရ်၊ မုရှ်ရစ်က်တို့အား 'အသင်တို့သည် ထိုကိုးကွယ်ရာများ၏ ဂုဏ်အင်ဒြဗ်များကို ပြောပြကြ' ဟု မိန့်ဆိုထားတော်မူ၏။ ထို့နောက် အဟုတ်တကယ် မရှိသောအရာ၌ အမည်နာမ ဂုဏ်အင်ဒြဗ် မရှိနိုင်ကြောင်း မိန့်ဆိုထားတော်မူ၏။ ယခုတစ်ဖန် ကာဖိရ်၊ မုရှ်ရစ်က်များက အလ္လာဟ်အရှင်မြတ်၌ ဂုဏ်ရည်တူ တွဲဖက်ယှဉ်ဖက်ရှိသည်ဟု ဖွတ်မိုက်ဆိုနေခြင်းမှာ အဆံမပါအသံသာ ဖြစ်သည်။ အဓိပ္ပါယ်မပါ စကားလုံးများသာ ဖြစ်ချေသည်။ အခြေအမြစ် အလျှင်းမရှိ။

မမှန်ကန်သော၊ မှားယွင်းသော၊ တွေးတောထင်မြင်ရမ်းဆမှုများမှ ဖြစ်ပေါ်လာသည့်အသံများ၊ အက္ခရာများ၌ အသို့လျှင် အနက်အဓိပ္ပါယ်ရှိနိုင်အံ့နည်း။ ကာဖိရ်၊ မုရှ်ရစ်က်များ ပရမ်းပတာ ရမ်းဆပြောဆို➤➤

အသင်တို့သည်ထိုအရှင်မြတ်အား *ပထဝီမြေ၌* စင်စစ်မှာမူကားအလ္လာဟ်အရှင်မြတ်လမ်းမှား၌ ထားရှိသောသူအား *တရားလမ်းမှန်ကို ညွှန်ကြားပြသမည့်သူဟူ၍ တစ်ဦးတစ်ယောက်မျှပင် မရှိချေ။* [၁]

لَهُمْ عَذَابٌ فِي الْحَيَاةِ الدُّنْيَا وَلَعَذَابُ الْآخِرَةِ أَشَقُّ ۖ وَمَا لَهُمْ مِنَ اللَّهِ مِنْ وَاقٍ ﴿٣٤﴾

၃၄။ ၎င်းတို့၌ဤပစ္စက္ခမျက်မှောက် လောကီဘဝ၌လည်း ပြစ်ဒဏ်သည် ရှိပေသည်။ သို့ရာတွင် နောင်တမလွန်ဘဝ၏ *ပြစ်ဒဏ်မှာမူကား ပြင်းထန်လှပေသည်။* [၂] ထို့ပြင် ၎င်းတို့အား အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်မှ ကယ်တင်မည့်သူဟူ၍လည်း တစ်ဦးတစ်ယောက်မျှပင် ရှိလိမ့်မည် မဟုတ်ပေတကား။

---

➤➤ နေကြသောစကားများကို ၎င်းတို့ကိုယ်တိုင် အကယ်၍ မိရိုးဖလာ၊ အစွဲအလမ်း အယူသည်းမှုများနှင့်ကင်းရှင်းစွာ စဉ်းစားဆင်ခြင်ကြပါက ၎င်းတို့ကိုယ်တိုင်ပင် လက်ခံကြမည်မဟုတ်ပေ။ သို့ဖြစ်ပေရာ ယခု ၎င်းတို့ပြောဆိုနေကြသော စကားများသည် အပေါ်ရိက စကားများသာဖြစ်ချေသည်။ ယင်းသို့သော စကားများသည် လူသားတို့စိတ်၊ လူသားတို့၏သဘာဝများက ပယ်ထားသော စကားများသာ ဖြစ်ချေသည်။

(၁) ကာဖိရ်၊ မုရှ်ရစ်က်များသည် 'တောင်ဟီးဒ်' ကို ဆန့်ကျင်ပြီး 'ရှရစ်က်'ကို ပရိယာယ်အမျိုးမျိုးဖြင့် ထောက်ခံပြောဆိုနေကြ၏။ ၎င်းတို့သည် ဤကိစ္စတွင် နည်းပရိယာယ်မျိုးစုံ အသုံးပြုကြ၏။ လိမ်လည်လှည့်ဖြားကြ၏။ မမှန်သောအကြောင်း အမျိုးမျိုးပြကြ၏။ မမှန်သောစကား အမျိုးမျိုးပြောကြ၏။ ဤသည်တို့ကား စိတ်၏လှည့်ဖြားခြင်း၊ ရှိုင်တွာန်၏ဖြားယောင်းခြင်းသာ ဖြစ်သည်။ ဤသည့်လှည့်ဖြားခြင်း၊ ဖြားယောင်းခြင်းများကိုပင် ၎င်းတို့သည် အကောင်းထင်မှတ်နေကြ၏။ ထိုအတွင်ကြောင့်လည်း ၎င်းတို့သည် ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်မှ တားဆီးပိတ်ပင်ခြင်းခံခဲ့ကြရခြင်းဖြစ်သည်။ အမှန်မှာ ယင်းကာဖိရ်၊ မုရှ်ရစ်က်များသည် အမှန်တရားအထင်အရှားရှိပါလျက် မလိုမုန်းတီးမှုကြောင့် ၎င်းတို့ကိုယ်တိုင်ကပင်လျှင် တရားလမ်းမှန်ကို မလိုလားကြပေ၊ အလ္လာဟ်အရှင်မြတ်သည် တရားလမ်းမှန်ကို မိမိတို့ကိုယ်တိုင်က လိုလားသောသူများအားသာလျှင် လမ်းမှန်သို့ ပို့ဆောင်တော်မူသည်။ တရားလမ်းမှန်ကို မိမိတို့ကိုယ်တိုင်က မလိုလားသောသူတို့ကိုမူ တရားလမ်းမှန်သို့ ပို့ဆောင်တော်မူသည် မဟုတ်ချေ။

(၂) ဤကာဖိရ်၊ မုရှ်ရစ်က်တို့အဖို့ ဤပစ္စက္ခဘဝတွင်လည်း ပြစ်ဒဏ်ရှိ၏၊ ထိုပြစ်ဒဏ်ကား အသတ်အဖြတ်ခံရခြင်း၊ အဖမ်းအဆီး အချုပ်အနှောင်ခံရခြင်း၊ ဂုဏ်အင်သေးသိမ်ရခြင်း၊ ရောဂါဝေဒနာများ စွဲကပ်ခြင်း အစရှိသည်တို့တည်း။ နောင်တမလွန်ဘဝတွင်လည်း ပြစ်ဒဏ်ရှိ၏၊ နောင်တမလွန်၏ ပြစ်ဒဏ်ကား ပို၍ပင်ကြီး၏။ အဘယ်ကြောင့်ဆိုသော် နောင်တမလွန်၏ ပြစ်ဒဏ်သည် ပို၍လည်း ပြင်းထန်၏၊ ထို့ပြင်တဝ အမြဲထာဝစဉ် ခံစားရမည့်ပြစ်ဒဏ်လည်း ဖြစ်၏။ထာနဝီ။

مَثَلُ الْجَنَّةِ الَّتِي وُعِدَ الْمُتَّقُونَ ۖ تَجْرِي مِنْ تَحْتِهَا الْأَنْهَارُ ۖ أُكُلُهَا دَائِمٌ وَظِلُّهَا ۚ تِلْكَ عُقْبَى الَّذِينَ اتَّقَوْا ۖ وَعُقْبَى الْكَافِرِينَ النَّارُ ﴿٣٥﴾

၃၅။ ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်ကြကုန်သော သူမွန်သူမြတ်တို့က ကတိပေးခြင်းခံကြရသော ဂျန္နတ် အမတသုခဘုံ၏အခြေအနေကား ယင်းဂျန္နတ်အမတ သုခဘုံ၏အောက်၌ စမ်းရေချောင်းများသည် စီးတွေ လျက် ရှိပေမည်။ ယင်းဂျန္နတ်၏ သစ်သီးဝလံများ သည်လည်းကောင်း၊ယင်းဂျန္နတ်၏အရိပ်ဆာယာသည် လည်းကောင်း၊ ထာဝရတည်သော သစ်သီးဝလံများ၊ အရိပ်ဆာယာများပင်ဖြစ်ချေမည်။ ဤသည်ကား ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်ကြကုန်သော သူမွန် သူမြတ်တို့၏ အကျိုးတည်း။ သို့ရာတွင် ကာဖိရ် မယုံမကြည် သွေဖည် ငြင်းပယ်ကုန်သောသူတို့၏ အကျိုးမှာကား ငရဲမီးပင် ဖြစ်အံ့သတည်း။ [၁]

وَالَّذِينَ آتَيْنَاهُمُ الْكِتَابَ يَفْرَحُونَ بِمَا أُنْزِلَ إِلَيْكَ ۖ وَمِنَ الْأَحْزَابِ مَنْ يُنْكِرُ بَعْضَهُ ۚ قُلْ إِنَّمَا أُمِرْتُ أَنْ

၃၆။ အမှန်သော်ကား ငါအရှင်မြတ်က ဒေသနာ တော်ကျမ်းမြတ်ကို ချီးမြှင့်ပေးသနားတော်မူသော သူတို့သည် အသင့်ထံသို့ ကျရောက်လာသော ကျမ်းမြတ်ဒေသနာတော်ကြောင့် *ရွှင်မြူးလျက် ရှိကြ ကုန်၏။* [၂] သို့ရာတွင် ယင်းအုပ်စုထဲ၌ပင် ယင်း ကျမ်းမြတ်ဒေသနာတော်၏ အချို့အစိတ်အပိုင်းကို *ငြင်းပယ်သောသူများလည်း ရှိကုန်၏။* [၃]

(၁) ဤအာယတ်တော်တွင် မုအ်မင်န် သူတော်စင်များ၏ လားရာဌာနနှင့် ကာဖိရ်သူယုတ်များ၏ လားရာဌာနကို အတိအကျ ခွဲခြားမိန့်ဆိုထားတော်မူသည်။ မုအ်မင်န်တို့၏ လားရာဌာနသည် ဂျန္နတ်အမတသုခဘုံဖြစ်သည်၊ ကာဖိရ်တို့၏ လားရာဌာနသည် 'နာရ်' အမတ ဒုက္ခဘုံဖြစ်သည်။ ဂျန္နတ် အမတ သုခဘုံသည် ထာဝရဖြစ်၏၊ ဂျန္နတ်ရှိ စားဖွယ်သောက်ဖွယ် အားလုံးတို့သည်လည်း ထာဝရဖြစ်၏။ ကြည့်-ကုရ်အာန် (၅၆:၃၃)။

ဂျန္နတ်၏ အရိပ်အာဝါသသည်လည်း စိတ်ကြည် ကိုယ်ချမ်း ရွှင်လန်းစေမည်၊ ဂျန္နတ်တွင် ပူလွန်း အေးလွန်းသည်မရှိ၊ အနေတော်သာဖြစ်မည်။ ကြည့်-ကုရ်အာန် (၇၆:၁၃)။

ဂျန္နတ်သားများ၏ အမတသုခနှင့် ဂျဟန္နမ်သားများ၏ အမတဒုက္ခကို ကုရ်အာန် (၅၆:၁-၉၆) တွင် ရှုပါကုန်။

(၂) 'ငါအရှင်မြတ် ကျမ်းဂန် ချီးမြှင့်ထားတော်မူသောသူများ' တွင် မွတ်စ်လင်မ်များလည်း အကျုံးဝင်သည်၊ ယဟူဒီ၊ နဆွရာနီ များလည်း အကျုံးဝင်သည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် ➤➤

اَعۡبُدَ اللّٰهَ وَلَاۤ اُشۡرِكَ بِهٖ ؕ اِلَيۡهِ اَدۡعُوۡا وَاِلَيۡهِ مَاٰبِ ۳۶

(သို့ဖြစ်ပေရာ) အသင်သည် (၎င်းတို့အား ဤသို့) ပြောကြားပါလေ။ (အချင်းတို့၊ အမှန်စင်စစ် မှာမူကား) ငါသည် အလ္လာဟ်အရှင်မြတ်ကိုသာလျှင် ခဝပ်ကိုးကွယ်ရန်နှင့် မည်သည့် တစ်စုံတစ်ရာကိုမျှ ထိုအရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ် ကိုးကွယ်ခြင်း မပြုရန်လည်းကောင်း အမိန့်ပေးတော်မူခြင်းကိုသာ ခံခဲ့ရလေသည်။

---

➤➤ မကြာမီအတွင်းကပင် မွတ်စ်လင်မ်များအား ကုရ်အာန်ကျမ်းမြတ်ကို ချီးမြှင့်ထားတော်မူသည်၊ ထိုအရှင်မြတ်သည် အတိတ်ခေတ်တွင် ယဟူဒီ၊ နဆွ်ရာနီ တို့အားလည်း တောင်ရာတ်၊ အင်န်ဂျီလ် စသည့်ကျမ်းများကို ချီးမြှင့်တော်မူခဲ့သည်။ အဆိုပါ မွတ်စ်လင်မ်၊ ယဟူဒီ၊ နဆွ်ရာနီများသည် တမန်တော်မြတ်ထံသို့ ကုရ်အာန်ကျမ်းမြတ် ကျရောက်လာခဲ့သည့်အတွက် ဝမ်းသာကြပေသည်။ မွတ်စ်လင်မ်တို့၏ ဝမ်းသာခြင်းမှာ ထင်ရှားလှ၏။

အဘယ်ကြောင့်ဆိုသော် မွတ်စ်လင်မ်တို့သည် ကုရ်အာန် ကျမ်းမြတ်ကို နှစ်ဘဝ၏ အောင်မြင်ခြင်း၏ သော့ချက်ဖြစ်သည်ဟု ယုံကြည် ယူဆကြပေသည်။ ယဟူဒီ၊ နဆွ်ရာနီများတွင် ပညာရှင် သုခမိန်များ တရားမျှတ သူများ အမှန်တရားကို လိုက်နာကျင့်သုံး သူများလည်း ရှိကြပေသည်။ ၎င်းတို့သည်လည်း ကုရ်အာန် ကျမ်းမြတ် ကျရောက်လာသည့်အတွက် ဝမ်းသာကြပေသည်၊ အဘယ်ကြောင့် ဆိုသော် ကုရ်အာန်ကျမ်းမြတ်သည် သဘောထားကြီးစွာဖြင့် ၎င်းတို့ထံသို့ ကျရောက်ခဲ့သော မူရင်းကျမ်းများကို ဟုတ်မှန်ကြောင်း ထောက်ခံပေသည်၊ ၎င်းတို့တွင် ပွင့်ခဲ့ကြကုန်သော နဗီတမန်တော်များအားလည်း ချီးမွမ်းထောမနာ ပြုပေသည်၊ ထို့ပြင်မက ၎င်းတို့ တွင်ရှိခဲ့ကြသည့် မှန်ကန်သော ဘုန်းကြီး ရဟန်းများ အားလည်း ချီးမွမ်း ထောမနာပြုပေသည်။ ကြည့်-ကုရ်အာန် ( ၅ း ၈၂ )။ ယဟူဒီ၊ နဆွ်ရာနီများအနက် ယင်းကဲ့သို့သော တရားမျှတသော၊ အမှန်တရားကို လိုက်နာကျင့်သုံးသော ပုဂ္ဂိုလ်များသည် အစ္စလာမ်သာသနာသို့ ကူးပြောင်း သက်ဝင် ယုံကြည်လာခဲ့ကြပေသည်။

၃ ယဟူဒီ၊ နဆွ်ရာနီ သို့မဟုတ် အရဇ်မိစ္ဆာဒိဋ္ဌိများတွင် အချို့သူများသည် ကုရ်အာန်ကျမ်းမြတ် ကျရောက်လာသည့်အတွက် ဝမ်းမသာနိုင်ကြပေ၊ အဘယ်ကြောင့်ဆိုသော် ၎င်းတို့သည် ကုရ်အာန်ကျမ်းလာ အချို့ဒေသနာတော်များကို လက်မခံကြပေ၊ ၎င်းတို့ လက်မခံသော ကုရ်အာန်ကျမ်းလာ ဒေသနာတော်များမှာ အခြားမဟုတ်၊ ၎င်းတို့၏ မှောက်မှားမှုများကို ကုရ်အာန်ကျမ်းမြတ်က ထောက်ပြထားခြင်းကြောင့် ဖြစ်သည်။ ဥပမာ - အချို့ ယဟူဒီ၊ နဆွ်ရာနီများသည် မိမိတို့၏ စိတ်အာသာဆန္ဒအတိုင်း မိမိတို့၏ ကျမ်းလာဒေသနာတော်များကို ကပြောင်းကပြန် ပြုလုပ်ခဲ့ကြလေသည်။

အရဇ် မိစ္ဆာဒိဋ္ဌိများသည် မိမိတို့ကိုးကွယ်ကြသော ရုပ်ပွားဆင်းတုများ၌ တစ်စုံတစ်ရာ စွမ်းရည်သတ္တိ မရှိသည်ကို မိမိတို့ကိုယ်တိုင် သိပါလျက် မိရိုးဖလာ ဖွတ်မိုတ်ကာ ကိုးကွယ်နေကြသည်၊ ကုရ်အာန်သည် ဤသည့်အချက်ကို ထောက်ပြသည်၊ ယင်းသို့ထောက်ပြသည်ကို ၎င်းတို့သည် မကျေနပ်ခဲ့ကြပေ။

ငါသည် ထိုအရှင်မြတ် ဘက်သို့သာလျှင် (အသင်တို့အား) ဖိတ်ခေါ်လျက်ရှိပေသည်။ ၎င်းပြင် ငါသည် ထိုအရှင်မြတ် အထံတော်သို့သာလျှင် ပြန်လည်၍ သွားရမည် ဖြစ်ချေသတည်း။ ၁

၃၇။ စင်စစ်သော်ကားဤနည်းအတိုင်းပင် ငါအရှင်မြတ်သည် ယင်းကျမ်းမြတ်ဒေသနာတော်ကို ထင်ရှား *ပြတ်သားသော (တစ်နည်း) အရဗီဘာသာဖြင့်* ၂ အမိန့်တော်(စီရင်ဆုံးဖြတ်ချက်)တစ်ရပ်အဖြစ်ထုတ်ပြန်တော်မူခဲ့လေသည်။သို့ရာတွင်မူကား အကယ်၍ အသင်သည် မိမိထံသို့ (မှန်ကန်တိကျသော) အသိပညာရောက်ရှိလာခဲ့ပြီးနောက် ၎င်းတို့၏ အလိုဆန္ဒများကို လိုက်နာခဲ့ပါမူ အသင့်အား အလ္လာဟ်အရှင်မြတ်နှင့်ပြိုင်ဆိုင်၍ ကူညီစောင်မမည့် အဆွေခင်ပွန်းဟူ၍လည်းကောင်း၊ ကာကွယ်စောင့်ရှောက်မည့်သူဟူ၍လည်းကောင်း၊ တစ်ဦးတစ်ယောက်မျှပင် ရှိလိမ့်မည်မဟုတ်ပေ။ ၃

وَكَذٰلِكَ اَنۡزَلۡنٰهُ حُكۡمًا عَرَبِيًّا ‌ؕ وَلَٮِٕنِ اتَّبَعۡتَ اَهۡوَآءَهُمۡ بَعۡدَ مَا جَآءَكَ مِنَ الۡعِلۡمِ ۙ مَا لَكَ مِنَ اللّٰهِ مِنۡ وَّلِىٍّ وَّلَا وَاقٍ ﴿۳۷﴾

---

① ကုရ်အာန်ကျမ်းလာ အချို့ဒေသနာတော်များကို လက်မခံသောသူများအား ဤအာယတ်တော်တွင် ဖြေကြားထားတော်မူသည်၊ ဤအာယတ်တော်တွင် အစ္စလာမ်သာသနာတော်၏ အဓိကအချက်များအနက် အချက်ကြီးသုံးချက်ကို ညွှန်ပြထားတော်မူသည်။

(၁) တောင်ဟီးဒ်၊
(၂) ရိစာလတ်၊
(၃) အာခိရတ်။

( اَعۡبُدَ اللّٰهَ وَلَاۤ اُشۡرِكَ بِهٖ ) ၌ တောင်ဟီးဒ်၊ ( اِلَيۡهِ اَدۡعُوۡا ) ၌ ရိစာလတ်၊ ( اِلَيۡهِ مَاٰبِ ) ၌ အာခိရတ်ကို အသီးသီး မိန့်ကြားထားတော်မူသည်။

② အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာသူကမ္ဘာသားတို့အား တရားဓမ္မ ဟောကြားရန်အတွက် အခြားအခြားသော ကျမ်းဂန်များကို သက်ဆိုင်ရာ တမန်တော်များထံသို့ ထုတ်ပြန်ချမှတ်တော်မူသကဲ့သို့ တရားဓမ္မတို့၏ အချုပ်ဓမ္မုပဒေသဓမ္မသာရဖြစ်သော ကုရ်အာန်ကျမ်းမြတ်ကို တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံသို့ ထုတ်ပြန်ချမှတ်တော်မူခဲ့လေသည်။ ထိုအရှင်မြတ်သည် အခြားကျမ်းဂန်များကို သက်ဆိုင်ရာ အမျိုးသားတို့၏ ဘာသာစာပေ၌ ထုတ်ပြန်ချမှတ်ထားတော်မူသကဲ့သို့ ကုရ်အာန်ကျမ်းမြတ်ကိုလည်း အရဗီဘာသာစာပေ၌ ➤➤

وَلَقَدْ اَرْسَلْنَا رُسُلًا مِّنْ قَبْلِكَ وَ جَعَلْنَا لَهُمْ اَزْوَاجًا وَّذُرِّيَّةً ۚ وَمَا كَانَ لِرَسُوْلٍ اَنْ يَّاْتِيَ بِاٰيَةٍ

၃၈။ ၎င်းပြင် မချွတ်ဧကန် ငါအရှင်မြတ်သည် အသင်၏အလျှင် ရစူလ်တမန်တော်များကို စေလွှတ်တော်မူခဲ့လေသည်။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထိုရစူလ်တမန်တော်များအဖို့ ဇနီးကြင်ရာများကိုလည်းကောင်း၊ သားသမီးများကိုလည်းကောင်း စီမံပြုလုပ်၍ ပေးတော်မူခဲ့လေသည်။ [၁]

---

➤➤ ထုတ်ပြန်ချမှတ်တော်မူခဲ့လေသည်။ အရဗီဘာသာစာပေသည် ကမ္ဘာ့စာပေတို့တွင် စာပေအမြောက်ဆုံးသော စာပေဖြစ်သည်၊ ထို့အတွက်ကြောင့် ကမ္ဘာသူကမ္ဘာသားအားလုံးတို့အတွက်ဖြစ်၍ ကမ္ဘာတစ်သက်တည်ရှိမည့် ကုရ်အာန် ကျမ်းတော်မြတ်ကိုလည်း ကမ္ဘာ့စာပေတို့၏ အချုပ်ဖြစ်သော အရဗီဘာသာစာပေဖြင့် ထုတ်ပြန်ချမှတ်ထားတော်မူသည်။

② တမန်တော်မြတ်သည် ကုရ်အာန်ကျမ်းမြတ်ကဲ့သို့သော ကျမ်းဂန် ဓမ္မခန် ချီးမြှင့်တော်မူခြင်း ခံရပြီးသည့်နောက်ပိုင်းတွင် သူတစ်ပါးတို့၏ သွေဖည်ငြင်းဆန် မနာခံမှုတို့ကို စိုးစဉ်းမျှ ဂရုပြုတော်မမူဘဲ မိမိချီးမြှင့်တော်မူခြင်း ခံရသော ကျမ်းဂန်လာ ဒေသနာတော်များကိုသာ တည့်မတ်စွာ လိုက်နာကျင့်သုံးရန်အတွက် ဤအာယတ်တော်တွင် တမန်တော်မြတ်အား မိန့်ကြားထားတော်မူသည်။

အကယ်တန္တ တမန်တော်မြတ်သည် (မပြောကောင်းမဆိုအပ်) မိမိထံသို့ ကုရ်အာန်ကျမ်းမြတ် ရောက်ရှိလာပြီးသည့် နောက်ပိုင်းတွင် သူတစ်ပါးတို့၏ အလိုဆန္ဒများဘက်သို့ ယိမ်းယိုင်မိသွားပါက တမန်တော်မြတ်အဖို့လည်း အလ္လာဟ်အရှင်မြတ်ထံတော်မှ ကျရောက်မည့် ပြစ်ဒဏ်ကို ကာကွယ်ပေးနိုင်မည့်သူ တစ်ဦးတစ်ယောက်မျှရှိမည်မဟုတ်ပေ။

အမှန်မှာ ဤအာယတ်တော်သည် တရားဓမ္မကို ရှာဖွေဆည်းပူးသူတိုင်းအား ရည်ညွှန်းမိန့်ဆိုထားတော်မူသော အာယတ်တော် ဖြစ်သည်။ အကယ်၍ ဤအာယတ်တော်သည် တမန်တော်မြတ်ကိုပင် ရည်ညွှန်းမိန့်ဆိုထားတော်မူသော အာယတ်တော်ဖြစ်သည်ဟု ယူဆပါက အလိုသဘောမှာ သမီးရိုက်၍ ချွေးမကို ဆုံးမသည်ဆိုသကဲ့သို့ တမန်တော်မြတ်အား ရှေ့ထား၍ ကမ္ဘာသူကမ္ဘာသားတို့အား ဟောကြားထားတော်မူခြင်းဖြစ်သည်။ ဤသို့သော အသုံးအနှုန်းများကို ကုရ်အာန်ကျမ်းမြတ်တွင် အများအပြားတွေ့ရှိရပေသည်။

ဤအာယတ်တော်နှင့် အလားတူ အာယတ်တော်များသည် ကုရ်အာန် (၂း၁၂၀ နှင့် ၂း၁၄၅)တွင်လည်း ပါရှိခဲ့လေသည်။

① အချို့ အသိဉာဏ် အမြော်အမြင်မရှိသောသူများက တမန်တော်မြတ်၌ ဇနီးသားသမီးရှိသည်ကို စောဒနာတက်ကြသည်၊ ဤအာယတ်တော်တွင် ဤသည့်အချက်ကိုပင် ဖြေဆိုထားတော်မူသည်၊ ဇနီးသားသမီး ရှိခြင်းသည် တမန်တော်၏ဂုဏ်နှင့် မည်သို့မျှ ဆန့်ကျင်သည်မဟုတ်ပေ။ တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ပွင့်လာတော်မူခြင်းမှာလည်း အထူးအဆန်း မဟုတ်ပေ၊ တမန်တော်များသည် ကမ္ဘာဦးအစမှပင် လူသားတို့ထံသို့ ခေတ်တိုင်းမှာပင် အသီးသီးပွင့်ခဲ့ကြပေသည်။ ဥပမာ– တမန်တော် နူးဟ်၊ တမန်တော် အီဗ်ရာဟီမ်၊ တမန်တော် အစ္စဟာက်၊ တမန်တော် အီစ်မာအီလ်၊ တမန်တော် ယအ်ကူဗ်၊ တမန်တော်မူစာ၊ တမန်တော် ဒါဝူဒ်၊ တမန်တော် စုလိုင်မာန် ... တို့သည်လည်း တမန်တော်များပင် ဖြစ်ခဲ့ကြကုန်၏၊ ➤➤

إِلَّا بِإِذْنِ اللّٰهِ لِكُلِّ أَجَلٍ كِتَابٌ ﴿٣٨﴾

စင်စစ်သော်ကားမည်သည့် ရစူလ်တမန်တော် တစ်ပါး၌မျှ အလ္လာဟ်အရှင်မြတ်၏ ခွင့်ပြုချက် မရှိဘဲလျက် အာယတ်တော် (သက်သေလက္ခဏာ) တစ်စုံတစ်ရာကို ယူဆောင်လာရန် *အခွင့်အာဏာ မရှိချေ။* [၁] *ခေတ်ကာလ အပိုင်းအခြားတိုင်းအဖို့ ကျမ်းဂန်တစ်စောင်သည် ရှိချေသတည်း။* [၂] (ခေတ်တိုင်းအဖို့ သီးသန့် အမိန့်တော်များရှိသည်)။

▶▶ ၎င်းတို့၏ အတ္တုပ္ပတ္တိများသည်လည်း ရာဇဝင်သမိုင်းများတွင် အထင်အရှားတွေ့ရှိရ၏၊ ထိုထိုသော တမန်တော်များသည် အိမ်ထောင်သည်များ ဖြစ်ခဲ့ကြ၏၊ ၎င်းတို့၌ သားသမီးများလည်း ရှိခဲ့ကြ၏၊ ထိုထိုသော တမန်တော်များ အပေါ်၌ ဇနီး၊ သားသမီးရှိသည့်အတွက် စောဒနာမတက်ကြလျှင် တမန်တော်မြတ်အပေါ်၌ အဘယ်ကြောင့် စောဒနာတက်ကြသနည်း။

(ထို့ပြင်တဝ တမန်တော်များသည် လူသားများသာဖြစ်ကြပေသည်၊ ကောင်းကင်တမန်များ မဟုတ်ကြပေ၊ တမန်တော်များသည် လူသား၊ ယောကျ်ားများဖြစ် ကြပေသည်၊ အိမ်ထောင်ပြုခြင်း၊ သားသမီးရှိခြင်း ... စသည်တို့သည် ကျန်းမာမှု၊ ယောကျ်ားပီသမှု၏ နိမိတ်လက္ခဏာများပင် ဖြစ်ပေသည်။)

ယခုခေတ်တွင် အိမ်ထောင်ပြုခြင်း၊ သားသမီးရှိခြင်းများသည် 'ဝေ့လာယတ်'၊ 'ရူဟာနီယတ်' များနှင့်ဆန့်ကျင်သည်ဟု ယူဆပြောဆိုကာ အချို့သူများသည် အိမ်ထောင်မပြုဘဲ တစ်ကိုယ်ထီးတည်း လူပျိုကြီး လုပ်၍နေကြသည်။ ထိုသို့သောသူများသည် ဤအာယတ်တော်ကို ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်နေကြပေသည်။ မာဂျိဒီ။

(၁) တမန်တော်များသည် အလ္လာဟ်အရှင်မြတ်၏ ကျွန်များဖြစ်ကြသည်၊ တမန်တော်များသည် အလ္လာဟ်အရှင်မြတ် ခိုင်းစေတော်မူသမျှကို တစ်သဝေမတိမ်း လိုက်နာကျင့်မူကြသော ပုဂ္ဂိုလ်မွန်၊ ပုဂ္ဂိုလ်မြတ်များသာ ဖြစ်ကြပေသည်၊ ထိုတမန်တော်များသည် အလ္လာဟ်အရှင်မြတ်၏ ခွင့်ပြုချက်မရှိဘဲ တန်ခိုးပြာဋိဟာ တစ်စုံတစ်ရာကိုမျှ ပြနိုင်စွမ်းကြသည် အလျှင်းမရှိပေ။ ထိုအရှင်မြတ် ခွင့်ပြုတော်မူသော တန်ခိုးပြာဋိဟာများကိုသာလျှင် ပြသနိုင်ကြပေသည်။ တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည်လည်း တမန်တော်တစ်ပါးသာ ဖြစ်တော်မူရာ အလ္လာဟ်အရှင်မြတ် ခွင့်ပြုတော်မူသော အရာကိုသာလျှင် ပြသတော်မူနိုင်သည်၊ ထိုအရှင်မြတ် ခွင့်ပြုတော်မမူသောအရာကို ပြသတော်မမူနိုင်ပေ။

အလ္လာဟ်ရှင်မြတ် ခွင့်ပြုတော်မူပုံမှာ ထိုအရှင်မြတ်သည် ခေတ်တိုင်းအဖို့ လျော်ကန်သင့်မြတ်သည့် အမိန့်တော်များကို သတ်မှတ်ပြဋ္ဌာန်းထားတော်မူသည်။ ထိုအမိန့်တော်များကို မည်သူ တစ်ဦးတစ်ယောက်မျှ ဖျက်နိုင်သည် အလျှင်းမရှိ၊ တမန်တော်မြတ်သည် ထိုအရှင်မြတ်၏ ခွင့်ပြုတော်မူချက်အရ ခေတ်နှင့်လျော်ကန် သင့်မြတ်သည့် အမိန့်တော်များကို ယူဆောင်လာတော်မူခဲ့ချေပြီ၊ မိမိနဗီတမန်တော်ဖြစ်ကြောင်းနှင့် စပ်လျဉ်း၍ သက်သေသာဓက အထောက်အထားပြရန်အတွက် တန်ခိုးပြာဋိဟာကိုလည်း ယူဆောင်လာတော်မူခဲ့ချေပြီ၊ တန်ခိုးထောက်ထားတော်မမူဘဲ ခေတ်နှင့်လျော်ကန်ပြာဋိဟာပြသရန်၌ လူအများ၏ တောင်းဆိုချက်ကို သင့်မြတ်သည်ကိုသာ ထောက်ထားတော်မူခဲ့ပေသည်။

يَمۡحُواْ ٱللَّهُ مَا يَشَآءُ وَيُثۡبِتُۖ وَعِندَهُۥٓ أُمُّ ٱلۡكِتَٰبِ ﴿٣٩﴾

၃၉။ အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောအရာကို ဖျောက်ဖျက်တော်မူလေသည်။ ထို့နည်းတူစွာ ထိုအရှင်မြတ်သည် (မိမိအလိုရှိတော်မူသောအရာကို) တည်တန့် စေတော်မူလေသည်။ စင်စစ်မူရင်း (မှတ်တမ်း)စာအုပ်မှာမူကား ထိုအရှင်မြတ်အထံတော်၌သာလျှင် ရှိပေသတည်း။ ၁

---

(၂) ခေတ်တိုင်း ခေတ်တိုင်းတွင် တမန်တော်များ ပွင့်ခဲ့ကြကုန်၏၊ ခေတ်များသည် တစ်ခေတ်နှင့်တစ်ခေတ် မတူပေ။ (ပတ်ဝန်းကျင်များလည်း တစ်ခုနှင့်တစ်ခု မတူပေ၊) ထို့အတွက်ကြောင့်ပင် ပွင့်လေသမျှသော တမန်တော်များသည် သာသနာ့ အခြေခံသဘောတရားများတွင် လုံးဝတူညီကြသော်လည်း ၎င်းတို့၏ 'ရှရီအတ်' ကျင့်စဉ် ကျင့်ရပ်များမှာမူ နည်းများမဆိုကွဲပြားခြားနားလျက် ရှိခဲ့ပေသည်။

ရှရီအတ်အားလုံးသည် လူသားတို့၏ လောကီရေး၊ လောကုတ္တရာရေး ကိစ္စအဝဝကို ကောင်းမွန်အောင် ပြုလုပ်ပေးရန်အတွက်ပင်ဖြစ်သည်။ ထို့အတွက်ကြောင့်လည်း လူမမာ၏ ရောဂါအခြေအနေ ပြောင်းလဲလာသည်နှင့်အမျှ ဆေးပြောင်းလဲလာသကဲ့သို့ လူသားတို့၏ ခေတ်ပြောင်းလဲလာသည်နှင့်အမျှ အခြေအနေ ပြောင်းလဲလာခဲ့သည်။ အခြေအနေ ပြောင်းလဲလာသည်နှင့်အမျှ ရှရီအတ်လည်း ပြောင်းလဲလာခဲ့ပေသည်။

ရှရီအတ်ကွဲပြားသည်ကို စောဒကတက်လိုသူများသည် တမန်တော်များအား အမိန့်ပညတ်များ သတ်မှတ်ပြဋ္ဌာန်း ထုတ်ပြန်နိုင်သော ပုဂ္ဂိုလ်များဟူ၍ ထင်မှတ်နေကြသည်။ အမိန့်ပညတ်သတ်မှတ် ပြဋ္ဌာန်း ထုတ်ပြန်ပိုင်ခွင့်အာဏာသည် အလ္လာဟ်အရှင်မြတ်၌သာလျှင် ရှိပေသည်။ တမန်တော်များ၌ ထိုအရှင်မြတ်၏ ခွင့်ပြုချက်မရှိဘဲလျက် အမိန့်တစ်စုံတစ်ရာကိုမျှ ထုတ်ပြန်ပိုင်ခွင့်အာဏာ အလျှင်းမရှိပေ။

အလ္လာဟ်အရှင်မြတ်သည် ခေတ်တိုင်းနှင့် လျော်ကန်သင့်မြတ်သော အမိန့်ပညတ်များကို သတ်မှတ ပြဋ္ဌာန်းတော်မူသည်၊ လူမမာတစ်ဦး၏ ရောဂါအခြေအနေ ပြောင်းလဲလာသည်နှင့်အမျှ ဆေးပြောင်းလဲလာသကဲ့သို့၊ ခေတ်ပြောင်းသည့်အခါ ခေတ်ပြောင်းသည့်အလျောက် အမိန့်တော်များကို ပြောင်းလဲသတ်မှတ်ပြဋ္ဌာန်းတော်မူသည်။ ယခုမူ ကမ္ဘာတစ်သက် ခေတ်တိုင်းနှင့် လျော်ကန်သင့်မြတ်သည့် ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ချမှတ်ထားတော်မူလိုက်လေသည်။

(၁) အထက်တွင် ရေးသားဖော်ပြခဲ့သည့်အတိုင်း အမိန့်ပညတ်များကို သတ်မှတ်ပြဋ္ဌာန်း ထုတ်ပြန်တော်မူသည်။ ခေတ်ပြောင်းလဲသည့်အခါ ယခင်ထုတ်ပြန်ပြီး အမိန့်ပညတ်တော်များအနက် အခြေအနေအရ အချို့ကို ဆက်လက်တည်ရှိစေတော်မူသည်၊ အချို့ကိုပယ်ဖျက်တော်မူသည်။ အလ္လာဟ်အရှင်မြတ်အထံတော်၌ မူရင်းမှတ်တမ်းတော် (ဝါ) 'လောင်ဟ်မဟ်ဖူဇ်' ရှိသည်။ အမိန့်ပညတ် အရပ်ရပ်တို့သည် ထိုမှတ်တမ်းတော်၌ရှိသည့်အတိုင်း ထုတ်ပြန်တော်မူခြင်းဖြစ်သည်၊ ထိုမှတ်တမ်းတော်တွင် အနည်းငယ် စိုးစဉ်းမျှ အပြောင်းအလဲ အလျှင်းမရှိပေ။

အလ္လာဟ်အရှင်မြတ်သည် မိမိ၏ 'ဟစ်ကမတ်' တော်နှင့်အညီ ဖျက်လိုတော်မူသော အမိန့်တော်များကို ဖျက်တော်မူ၍၊ ဆက်လက်တည်ရှိစေတော်မူလိုသော အမိန့်တော်များကို ဆက်လက် တည်ရှိစေတော်မူသည်။ ဖျက်ဆီးတော်မူလိုသော အမျိုးသားများကို ဖျက်ဆီးတော်မူ၍ ထိုသို့ဖျက်ဆီးတော် မူခြင်းခံရသော အမျိုးသားများ၏ နေရာတွင် မိမိထားရှိတော်မူလိုသော အမျိုးသားများကိုသာ ထားရှိတော်မူ၏။ 

وَإِنْ مَّا نُرِيَنَّكَ بَعْضَ الَّذِي نَعِدُهُمْ أَوْ نَتَوَفَّيَنَّكَ فَإِنَّمَا عَلَيْكَ الْبَلٰغُ وَعَلَيْنَا الْحِسَابُ ﴿٤٠﴾

၄၀။ အမှန်သော်ကား အကယ်၍ ငါအရှင်မြတ်သည် အသင်အား ငါအရှင်မြတ် ၎င်းတို့ကို ကတိပေးတော်မူရာ အချို့ကို ပြသတော်မူသည်ဖြစ်စေ၊ သို့တည်းမဟုတ် ငါအရှင်မြတ်သည် ကွယ်လွန်စေတော်မူသည်ဖြစ်စေ၊ (မည်သို့ပင်ဖြစ်စေ) အသင့်အပေါ်၌မူကား (ငါအရှင်မြတ် အမိန့်ပညတ်တော်များကို လူတို့ထံ) ပို့ဆောင်ရုံမျှပင် တာဝန်ရှိပေသည်။ ငါအရှင်မြတ်အပေါ်၌မူကား စစ်ဆေးရန်တာဝန် သည် ရှိပေသတည်း။ [၁]

---

➤➤ ဆိုလိုသည်ကား အားလုံးသော ပြောင်းလဲမှု၊ ပယ်ဖျက်မှု၊ ဆက်လက်တည်ရှိမှု၊ ဖျက်သိမ်းမှု အားလုံးတို့သည် ထိုအရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်၊ ဆုံးဖြတ်မှု၊ စီမံခန့်ခွဲမှုများနှင့် စပ်လျဉ်းသည့် မှတ်တမ်းများသည်လည်း ထိုအရှင်မြတ်ထံတော်၌သာ ရှိပေသည်။ ထို့ပြင် မှတ်တမ်းအသီးသီးတို့ အချုပ်ဖြစ်သည့် ( لَوۡحٍ مَّحۡفُوۡظٍ ) 'လောင်ဟ်မဟ်ဖူဇ်' သည်လည်း ထိုအရှင်မြတ်ထံတော်၌သာ ရှိပေသည်။ ထိုမှတ်တမ်းတော်တွင် စကြာဝဠာအဝန်းတွင် အတိတ်၌ဖြစ်ခဲ့သမျှသော၊ ပစ္စုပ္ပန်၌ဖြစ်နေသမျှသော၊ အနာဂတ်၌ ဖြစ်လတ္တံ့သော ကိစ္စအဝဝတို့သည် ခရေစေ့တွင်းကျ အသေးစိတ်ရေးမှတ်ထားပြီးဖြစ်သည်။ ထိုမှတ်တမ်းတော်၌ ရေးမှတ်ထားသော အရာများတွင် ပြောင်းလဲမှု အလျှင်းမရှိပေ။

(၁) ကာဖိရ်များသည် (တမန်တော်မြတ်အား သွေးဖည်ကြသည့်အတွက်) ၎င်းတို့အား အချို့ပြစ်ဒဏ်များကို ဤပစ္စက္ခ မျက်မှောက်ဘဝ၌ပင် ပေးတော်မူမည်ဟူ၍ အလ္လာဟ်အရှင်မြတ်က ကတိပေးထားတော်မူသည်။ ထိုကတိများအနက် အချို့ကို ထိုအရှင်မြတ်သည် တမန်တော်မြတ် သက်တော်ထင်ရှားရှိနေစဉ် အချိန်အခါ၌ပင် ဖြစ်ပေါ်စေတော်မူမည်ဖြစ်သည်။ အချို့ကတိများကိုမူ တမန်တော်မြတ် ကွယ်လွန် အနိစ္စရောက်တော်မူပြီးသည့် နောက်တွင် ဖြစ်ပေါ်စေတော်မူမည်ဖြစ်သည်။ထိုအရှင်မြတ်သည် မိမိထားရှိတော်မူသော ကတိတော်များကို အတည်ဖြစ်စေတော်မူမည်မှာ အမှန်မုချပင်၊ သို့ရာတွင် ထိုသည့်ကတိတော်များကို မည်သည့် အချိန်အခါ၌ အတည်ဖြစ်စေတော်မူခြင်းမှာ ထိုအရှင်မြတ်၏ သဘောအတိုင်းသာလျှင် ဖြစ်ပေသည်။

သို့ဖြစ်ပေရာ တမန်တော်မြတ်သည် ထိုသည့်ကတိတော်များ ဘယ်အခါမှ ဖြစ်ပေါ်ပါမည်လားဟူ၍ စိုးရိမ်နေရန်မလိုပေ၊ ကာဖိရ်များသည်လည်း ထိုသည့်ကတိတော်များ ဖြစ်ပေါ်ရာတွင် အနည်းငယ်ကြန့်ကြာနေသည်ကို ကြည့်ပြီး အမှုမဲ့အမှတ်မဲ့ မနေသင့်ကြပေ။ အရာရာတိုင်း ဖြစ်ပေါ်ရန်အတွက် အလ္လာဟ်အရှင်မြတ်သည် အချိန်အခါများကို အသီးသီး သတ်မှတ်ထားတော်မူသည်။ အချိန်ကျလျှင် ဖြစ်ပေါ်မည်သာ ဖြစ်သည်။ ထို့အတွက် တမန်တော်မြတ်သည် မိမိ၏တာဝန်ဖြစ်သော တရားဓမ္မဟောကြားခြင်းကို ပြုလုပ်မြဲတိုင်း ပြုလုပ်၍ နေရန်သာရှိသည်၊ သို့တရားဓမ္မ ဟောကြားပါလျက် သွေးဖည်ငြင်းဆန် မနာခံသော သူယုတ်တို့အား စစ်ဆေးပြီး ပြစ်ဒဏ်ပေးရန် အလ္လာဟ်အရှင်မြတ်က တာဝန်ယူထားတော်မူပေသည်။

ကြည့်-ကုရ်အာန် (၈၈း၂၁-၂၆)

၄၁။ ငါအရှင်မြတ်သည် မြေကို အေးပတ်ဝန်းကျင်များမှ (တဖြည်းဖြည်း) ယုတ်လျော့စေအောင် ပြုလုပ်လာတော်မူသည်ကို ၎င်းတို့သည် မမြင်ကြလေသလော။ ၁ အလ္လာဟ်အရှင်မြတ်သည် (မိမိအလိုရှိတော်မူသည်ကို) အမိန့်တော်ချမှတ်တော်မူလေသည်။ ထိုအရှင်မြတ်၏အမိန့်တော်ကို ရွှေ့ဆိုင်းနိုင်သူဟူ၍ တစ်ဦးတစ်ယောက်မျှပင် အလျှင်းမရှိပေ၊ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် လျင်မြန်စွာ စစ်ဆေးတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။ ၂

أَوَلَمْ يَرَوْا أَنَّا نَأْتِي الْأَرْضَ نَنقُصُهَا مِنْ أَطْرَافِهَا ۚ وَاللَّهُ يَحْكُمُ لَا مُعَقِّبَ لِحُكْمِهِ ۚ وَهُوَ سَرِيعُ الْحِسَابِ ﴿٤١﴾

၄၂။ အမှန်သော်ကား ၎င်းတို့အလျင်ရှိခဲ့ကြကုန်သောသူတို့သည် လျှို့ဝှက်စွာ ကြံစည်ခဲ့ကြကုန်၏။ စင်စစ်မှာမူကား အလုံးစုံသော အကြံအစည်တို့သည် အလ္လာဟ်အရှင်မြတ်၌သာ ရှိပေသည်။ ထိုအရှင်မြတ်သည် လူတိုင်းလူတိုင်း ပြုလုပ်သမျှတို့ကိုသိတော်မူ၏။

وَقَدْ مَكَرَ الَّذِينَ مِن قَبْلِهِمْ فَلِلَّهِ الْمَكْرُ جَمِيعًا ۖ يَعْلَمُ مَا تَكْسِبُ كُلُّ نَفْسٍ ۗ

---

(၁) အစ္စလာမ်သာသနာတော်သည် တစ်နေ့တခြား ပျံ့နှံ့ထွန်းကား ကြီးပွားလျက်ရှိ၏၊ အစ္စလာမ်သာသနာထွန်းကား ကြီးပွားလာသည်နှင့်အမျှ ကုဖ်ရ်၏နယ်နိမိတ်သည် ကျဉ်းမြောင်းလာခဲ့၏။ မက္ကာမြို့တော်နှင့် ပတ်ဝန်းကျင်ရှိမျိုးနွယ်ကြီးများ၊ ကျော်ကြားသည့် ပုဂ္ဂိုလ်ကြီးများသည်လည်း အစ္စလာမ်သာသနာတော်ဘက်သို့ယိမ်းယိုင်လာခဲ့ကြ၏၊ 'အောက်စ်'၊ 'ခတ်ဇ်ရဂျ်' မျိုးနွယ်ကြီးများ သည်လည်း အစ္စလာမ်သာသနာ၏ မှန်ကန်မှုကိုထောက်ခံလာခဲ့ကြ၏။ ဤသို့အားဖြင့် ကုဖ်ရ်၏အင်အားသည် တစ်နေ့တခြား ဆုတ်ယုတ်၍ ကုဖ်ရ်၏နယ်နိမိတ်သည် ကျဉ်းမြောင်းလာခဲ့၏၊ အစ္စလာမ်သာသနာ၏ အင်အားသည် တစ်နေ့တခြား တိုးပွားကြီးမား၍အစ္စလာမ်၏ နယ်နိမိတ်သည်လည်း တစ်နေ့တခြား ကြီးမားလာခဲ့၏။

ကာဖိရ်များသည် ဤသည့်ဖြစ်ရပ်ကို စူးစမ်းဆင်ခြင် မြော်မြင်ပါက အစ္စလာမ်သာသနာတော်၏ထွန်းကားမှုကို မည်သည့်အင်အားစုမျှ မတားဆီးမပိတ်ပင်နိုင်ကြောင်း၊ မိမိတို့၏ နောင်ရေးသည် အသို့ဖြစ်မည့်အကြောင်းများကို ကောင်းစွာ သိရှိနိုင်ကြပေသည်။

(၂) ကုရ်အာန်(၁၃း၄၀)တွင် စစ်ဆေးမေးမြန်းခြင်းသည် အလ္လာဟ်အရှင်မြတ်၏ တာဝန်ဖြစ်သည်ဟု မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်တွင် ထိုအရှင်မြတ်သည် ဆောလျင်စွာ စစ်ဆေးတော်မူသည့် အရှင်ဖြစ်တော်မူကြောင်းကို မိန့်ဆိုထားတော်မူသည်။ ထို့ပြင်တစ်ဝ ထိုအရှင်မြတ်၏ အဆုံးအဖြတ်သည် မပြောင်းလဲသောအဆုံးအဖြတ်ဖြစ်သည်၊ ထိုအရှင်မြတ်၏ အဆုံးအဖြတ်ကို မည်သူမျှ ပြောင်းလဲရွှေ့ဆိုင်းနိုင်သည်ဟူ၍လည်းအလျှင်းမရှိပေ၊ သို့ဖြစ်ပေရာ ကာဖိရ်များသည် အမှုမဲ့အမှတ်မဲ့ အပေါ့တဆ မနေသင့်ကြပေ။ မာဂျိဒီ။

وَسَيَعْلَمُ الْكُفّٰرُ لِمَنْ عُقْبَى الدَّارِ ﴿٤٢﴾

ထိုမှတစ်ပါး တမလွန်ဘဝ၏ အကျိုးဆက်သည် မည်သူတို့အဖို့ရှိသည်ကို ကာဖိရ် သွေဖည် ငြင်းပယ်ကုန်သော သူတို့သည် မကြာမြင့်မီ သိရှိသွားကြပေမည်။ [၁]

وَيَقُوْلُ الَّذِيْنَ كَفَرُوْا لَسْتَ مُرْسَلًا ۗ قُلْ كَفٰى بِاللّٰهِ شَهِيْدًا ۢ بَيْنِيْ وَبَيْنَكُمْ ۙ وَمَنْ عِنْدَهٗ عِلْمُ الْكِتٰبِ ﴿٤٣﴾

၄၃။ ၎င်းပြင် ကာဖိရ် သွေဖည် ငြင်းပယ်ကုန်သောသူတို့က *အသင်သည် ရစူလ်တမန်တော်မဟုတ်ဟု ပြောဆိုကြပေသည်။* [၂] (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောဆို(ဖြေကြား)ပါလေ။ (အချင်းတို့) ငါနှင့်အသင်တို့၏စပ်ကြားဝယ် သက်သေအဖြစ် အလ္လာဟ်အရှင်မြတ်သည် လည်းကောင်း၊ ဒေသနာတော်ကျမ်းဂန်၏ အသိပညာရှိသောသူတို့သည်လည်းကောင်း၊ လုံလောက်ပေသတည်း။

---

(၁) တမန်တော်မြတ် လက်ထက်တွင်ရှိသော ကာဖိရ်များသည် တမန်တော်မြတ်နှင့်တကွ အစ္စလာမ်သာသနာတော်ကိုပါ နှောင့်ယှက်ဖျက်ဆီးရန် အမျိုးမျိုးယုတ်မာသော အကြံအစည်များ ပြုလုပ်ခဲ့ကြပေသည်။ ဤသည် အထူးအဆန်း မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် အတိတ်ခေတ်များရှိ ကာဖိရ်များသည်လည်း မိမိတို့ထံသို့ အသီးသီး ပွင့်လာခဲ့ကြကုန်သော တမန်တော်များနှင့် ဒေသနာတော်များကို နှောင့်ယှက်ဖျက်ဆီးရန် ယုတ်မာစွာ အမျိုးမျိုး ကြံစည် အားထုတ်ခဲ့ကြပေသည်။ သို့ရာတွင် ကာဖိရ်များ၏ ယုတ်မာသော ကြံစည်မှုများသည် အလ္လာဟ်အရှင်မြတ်၏ ကြံစည်မှုရှေ့မှောက်တွင် အချည်းနှီးသာ ဖြစ်သွားခဲ့ကြပေသည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် လူသားတို့ ကြံစည်ပြုလုပ်သမျှတို့ကို အကြွင်းမဲ့ သိတော်မူသည်။ နောက်ဆုံးတွင် ကာဖိရ်များသည် မိမိတို့၏ ယုတ်မာသော အကြံအစည်များ၏ ယုတ်မာသော အကျိုးဆက်ကို မိမိတို့ကိုယ်တိုင် ခံသွားခဲ့ကြပေသည်။ ကြည့်-ကုရ်အာန် (၃၅း၄၃)။

အတိတ်ခေတ် ကာဖိရ်များသည် မိမိတို့၏ ယုတ်မာသော အကြံအစည်၏ ဆိုးရွားလှသောပြစ်ဒဏ်ကို အသီးသီး ခံသွားကြရသကဲ့သို့ ယခုသော် ကာဖိရ်များသည်လည်း မိမိတို့၏ မကောင်းသော အကြံအစည်များ၏ မကောင်းသော အကျိုးဆက်ကိုလည်း ခံစားကြရမည်သာ ဖြစ်သည်။ ထို့ပြင်တစ်ဝ ကောင်းသော အကျိုးဆက်သည် မည်သူ့အတွက်ဖြစ်သည်ကိုလည်း ယင်းကာဖိရ် များမကြာမီအတွင်း သိသွားကြပေမည်။

(၂) ကာဖိရ်များသည် မိမိတို့၌ သက်ရောက်မည့် ပြစ်ဒဏ်များကိုမေ့ကာ တမန်တော်မြတ်အား (မပြောကောင်း မဆိုကောင်း) 'အသင်သည် တမန်တော်မဟုတ် ဟူ၍ပင် မိုက်မဲစွာဆိုကြ၏။ ဤအာယတ်တော်တွင် ယင်းကာဖိရ်တို့အား ဖြေကြားထားစေတော်မူသည်မှာ အို-ကာဖိရ်အပေါင်းတို့၊ အသင်တို့၏ အဓိပ္ပာယ်ကင်းမဲ့သော ငြင်းဆိုခြင်းဖြင့် ကျွန်ုပ်၌ နစ်နာဆုံးရှုံးမှု အလျှင်းမရှိပေ။ ကျွန်ုပ်တမန်တော်ဖြစ်ကြောင်း ကျွန်ုပ်အား တမန်တော်အဖြစ် ခန့်အပ်တော်မူသော အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင် သက်သေခံတော်မူလျှက်ရှိသည်။ ➤➤

➤➤ ထို့ပြင် ကောင်းကင်ကျ ကျမ်းဂန်ရရှိသော 'အလ်ကိတာဗ်' များသည်လည်း သက်သေခံကြပေသည်။

ဆိုလိုသည်ကား-တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) တမန်တော်ဖြစ်ခြင်းနှင့် စပ်လျဉ်း၍ သက်သေသာဓက နှစ်မျိုးရှိသည်။

(၁) အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား မုအ်ဂျိဇဟ်ခေါ် တန်ခိုးပြာဋိဟာများကို ချီးမြှင့်တော်မူခြင်း။

(၂) အတိတ်ခေတ် ကောင်းကင်ကျ ကျမ်းဂန်များတွင် တမန်တော်မြတ် ပွင့်တော်မူမည့်အကြောင်း ဗျာဒိတ်စကားများ ပါရှိခြင်း၊ ဤသည့်ဗျာဒိတ်စကားများ ပါရှိကြောင်းကို သမာသမတ်သော ကိတာဗီသုခမိန်များအား မေးမြန်းကြည့်နိုင်ခြင်း၊ ဤကဲ့သို့ထင်ရှားသော သက်သေသာဓက အထောက်အထားများ ခိုင်လုံပါလျှက် တမန်တော်မြတ်အား တမန်တော်မြတ်မဟုတ်ဟု ငြင်းဆိုခြင်းမှာ မိမိကိုယ်ကို မိမိပင် ဖျက်ဆီးခြင်းပင်ဖြစ်သည်။ ထာနဝီ။

# တမန်တော် အီဗ်ရာဟီမ် ကဏ္ဍ

سُورَةُ إِبْرَاهِيمَ

ဤကဏ္ဍအမည်မှာ 'စူရဟ်အီဗ်ရာဟီမ်' တမန်တော်အီဗ်ရာဟီမ် အကြောင်း ပါဝင်သော ကဏ္ဍဖြစ်သည်။ ဤကဏ္ဍသည် မက္ကာမြို့တော်၌ ကျရောက်ခဲ့သည်။
ဤကဏ္ဍတွင် အာယတ်တော်ပေါင်း (၅၂)၊ ရုကုအ်အပိုဒ်ပေါင်း (၇)အသီးသီးပါရှိသည်။

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

အစဉ်မပြတ် သနားကြင်နာညှာတာတော်မူထသော အနန္တ ကရုဏာရှင်ဖြစ်တော်မူထသော၊ အလ္လာဟ်အရှင်မြတ်၏နာမတော်ဖြင့် အစပြုပါ၏။

الٓرۚ كِتَٰبٌ أَنزَلْنَٰهُ إِلَيْكَ لِتُخْرِجَ النَّاسَ مِنَ الظُّلُمَٰتِ إِلَى النُّورِ بِإِذْنِ رَبِّهِمْ إِلَىٰ صِرَٰطِ الْعَزِيزِ الْحَمِيدِ ①

၁။ အလစ်ဖ်၊ လမ်၊ ရာ။

ဤ(ကုရ်အာန်)သည်ကား အကြင်ကျမ်းမြတ်ပင်တည်း။ အသင်သည် လူသားအားလုံးတို့ကို ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏အမိန့်တော်နှင့် အမှောင်ထုမှအလင်းသို့ (ဝါ) တန်ခိုးအာနုဘော်နှင့် ပြည့်စုံတော်မူသောချီးမွမ်းဖွယ် ဂုဏ်တော်အပေါင်းနှင့် ပြည့်စုံတော်မူသောအရှင်မြတ်၏လမ်းသို့ ထုတ်ဆောင် (ကယ်တင်)အံ့သောငှာ ငါအရှင်မြတ်သည် ယင်းကျမ်းမြတ်ကို အသင်၏ထံသို့ ချပေးသနားတော်မူခဲ့လေသတည်း။ [၁]

---

(၁) ဤကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ချမှတ်တော်မူသောအရှင်မှာ တန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူသော အရှင် ဖြစ်တော်မူသည်။ ထုတ်ပြန်ပို့ချခြင်းခံရသော ပုဂ္ဂိုလ်မှာ တမန်တော်အပေါင်းတို့၏ အချုပ်ဖြစ်တော်မူသော တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ဖြစ်တော်မူသည်။ ဤသည့်အချက်ကို ထောက်ရှုခြင်း အားဖြင့် ကုရ်အာန်ကျမ်းမြတ်သည် အဘယ်မျှ ထူးကဲမြင့်မြတ်သည်ကို ကောင်းစွာသိနိုင်ပေသည်။

ထို့ပြင်တစ်ဝ ဤကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ချမှတ်တော်မူခြင်း၏ ရည်ရွယ်ချက်မှာလည်း ထူးကဲမြင့်မြတ်လှပေသည်။ ထိုရည်ရွယ်ချက်ကား အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြင့် ဖြူနက်မခြား၊ လူတန်းစားမခွဲ၊ ဆင်းရဲချမ်းသာမရွေး ကမ္ဘာသူကမ္ဘာသား အားလုံးတို့အား အမိုက်မှောင်များအတွင်းမှ ထုတ်၍ အမြော်အမြင်၊ အဆင်အခြင်၊ အယုံအကြည် . . . စသည်တို့နှင့် ပြည့်စုံသည့် 'အီမာန်' တည်းဟူသော လင်းရောင်ခြည်သို့ ဆောင်ရန်ပင်ဖြစ်သည်။ ဤလင်းရောင်ခြည်ကား အခြားမဟုတ်၊ အရာခပ်သိမ်းတို့ကို လွှမ်းမိုးတော်မူသော ချီးမွမ်းဖွယ် ဂုဏ်တော်အပေါင်းတို့နှင့် ပြည့်စုံတော်မူသော၊ ကမ္ဘာ့အဝန်းကို ➤➤

၂။ အကြင် အလ္လာဟ်အရှင်မြတ်(၏ လမ်းသို့) မိုးကောင်းကင်များ၌ရှိကုန်သောအရာများသည်လည်းကောင်း၊ ပထဝီမြေ၌ရှိကုန်သောအရာများသည်လည်းကောင်း ထိုအရှင်မြတ်သာလျှင် စိုးပိုင်တော်မူသော အရာများပင်။ ကာဖိရ်သွေဖည် ငြင်းပယ်ကုန်သော သူတို့၌မူကား ပြင်းထန်သော ပြစ်ဒဏ်ရှိသည်။

اللّٰهِ الَّذِيْ لَهٗ مَا فِي السَّمٰوٰتِ وَمَا فِي الْاَرْضِ ؕ وَوَيْلٌ لِّلْكٰفِرِيْنَ مِنْ عَذَابٍ شَدِيْدِ ۙ﴿٢﴾

၃။ အကြင်သူတို့သည် ပစ္စက္ခမျက်မှောက်လောကီဘဝ၌ အသက်ရှင်ခြင်းကို တမလွန်ဘဝထက်သာပို၍ပင် မြတ်နိုးကြကုန်သည်။ ထိုမှတစ်ပါး ၎င်းတို့သည် (လူတို့အား) အလ္လာဟ်အရှင်မြတ်၏ လမ်းတော်မှ တားဆီးကုန်သည်။ ထို့ပြင် ၎င်းတို့သည် ယင်းလမ်းတော်၌ ကွေ့ကောက်မှုကို ရှာဖွေလျက် ရှိကြကုန်သည်။ ဤသူတို့ကား (အမှန်နှင့်) အလွန်ဝေးလံသော လမ်းမှား၌ ရှိနေကြကုန်သတည်း။ [၁]

اۨلَّذِيْنَ يَسْتَحِبُّوْنَ الْحَيٰوةَ الدُّنْيَا عَلَى الْاٰخِرَةِ وَيَصُدُّوْنَ عَنْ سَبِيْلِ اللّٰهِ وَيَبْغُوْنَهَا عِوَجًا ؕ اُولٰٓئِكَ فِيْ ضَلٰلٍۢ بَعِيْدٍ ﴿٣﴾

---

➤➤ စိုးပိုင်တော်မူသော အလ္လာဟ်ရှင်မြတ်၏ တရားတော်လမ်းစဉ်ပင် ဖြစ်ပေသည်။ ဤရည်ရွယ်ချက်ထက် ကောင်းမွန်မြင့်မြတ်သော ရည်ရွယ်ချက်သည် အဘယ်မှာလျှင် ရှိနိုင်အံ့နည်း။

ဤအာယတ်တော်တွင် ပါရှိသည့် 'အလ်နာစ်' ဟူသည် လူသားအားလုံးတို့ကို ဆိုလိုသည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်သည် အဖန်ဆင်းခံအားလုံး တို့ထံသို့ စေလွှတ်တော်မူ ခြင်းခံခဲ့ရသော တမန်တော် ဖြစ်တော်မူပေသည်။

(၂) ဤကဲ့သို့သော ကုရ်အာန်ကျမ်းမြတ် ကျရောက်လာပြီးသည့်နောက်ပိုင်းတွင် ကာဖိရ်၊ မုရှ်ရစ်က်များသည် ကုဖ်ရ်၊ ရှစ်ရ်က် . . . အစရှိသည့် မိစ္ဆာမှောင်များအတွင်းမှ မထွက်လိုကြပါမူ၊ ၎င်းတို့သည် အလွန်ပြင်းထန်သော ပြစ်ဒဏ်များကို ခံစားကြရမည်သာ ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ယင်းကာဖိရ်၊ မုရှ်ရစ်က်များသည် ဤပစ္စက္ခ မျက်မှောက်ဘဝကို နောင်တမလွန်ဘဝထက် ပိုမို၍ နှစ်ခြိုက်ကြပေသည်။ ၎င်းတို့သည် နေ့ရောညဉ့်ပါ လောကီရေးရာများ၌ပင် နစ်မွန်း၍ နေကြသကဲ့သို့၊ သူတစ်ပါးတို့အားလည်း နစ်မွန်းစေလျက် အလ္လာဟ်အရှင်မြတ်၏လမ်း၏ တရားလမ်းတော်မှ ဖယ်ရှားထားကြလေသည်။ ထို့အတွက်ကြောင့်လည်း ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များတွင် တမင်အပြစ်ရှာဖွေကာ အဖြောင့်ကို အကောက်ဖြစ်သည်ဟူ၍ မုသားစွပ်စွဲ ပြောဆိုကြလေသည်။ အမှန်မှာ ဤသို့သော ကာဖိရ်၊ မုရှ်ရစ်က်များသည် မှန်ကန်သော တရားလမ်းစဉ်မှ အလွန် ဝေးကွာလျက်ရှိသည့် လမ်းမှားမှု၌ ကျရောက်လျက်ရှိကြပေပြီ။ ၎င်းတို့သည် ပြင်းထန်သော ပြစ်ဒဏ်များကို ခံစားကြရသောအခါကျ မျက်စိပွင့်ကြမည့်သူများတည်း။

وَمَآ أَرْسَلْنَا مِن رَّسُولٍ إِلَّا بِلِسَانِ قَوْمِهِۦ لِيُبَيِّنَ لَهُمْ ۖ فَيُضِلُّ ٱللَّهُ مَن يَشَآءُ وَيَهْدِى مَن يَشَآءُ ۚ وَهُوَ ٱلْعَزِيزُ ٱلْحَكِيمُ ④

၄။ စင်စစ်တစ်မူကား ငါအရှင်မြတ်သည် ရဆူလ်တမန်တော်တိုင်းကို *ယင်း ရဆူလ်တမန်တော်၏ အမျိုးသားတို့ (ပြောဆိုသုံးစွဲသော) ဘာသာစကား* နှင့်သာ [၁] ၎င်းတို့အား ယင်းရဆူလ်တမန်တော်က (ငါအရှင်မြတ်၏အမိန့်ပညတ်တော်များကို) ထင်ရှားစွာ ထုတ်ဖော်ပြောဆို ရှင်းလင်းပြနိုင်ခြင်းငှာ စေလွှတ်တော်မူခဲ့ပေသည်။

ထို့နောက် အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား လမ်းမှား၌ပင် ထားရှိတော်မူလေသည်။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား တရားလမ်းမှန်ကို ပြတော်မူပေသည်။ စင်စစ်သော်ကား ထိုအရှင်မြတ်သည်သာလျှင် တန်ခိုးအာနုဘော်နှင့် လွှမ်းမိုးတော်မူသောအရှင်၊ ကျိုးကြောင်း ဆင်ခြင်တုံတရားနှင့်ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

---

(၁) အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား တရားဓမ္မဟောညွှန်ပြတော်မူရန်အတွက် တမန်တော်မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံ ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ပို့ချတော်မူသကဲ့သို့ အတိတ်ခေတ်များတွင်လည်း လူမျိုးအသီးသီးတို့ထံသို့ တမန်တော်များကို စေလွှတ်တော်မူခဲ့သည်။ တမန်တော်များ၏ တရားဓမ္မကို ဦးစွာပထမ ကြားသိရသော ပုဂ္ဂိုလ်များမှာ ထိုတမန်တော်များ၏ အမျိုးသားများသာလျှင် ဖြစ်ခဲ့ကြပေသည်။ ထို့အတွက်ကြောင့်လည်း အလ္လာဟ်အရှင်မြတ်သည် ဒေသနာတော်များကို လွယ်ကူစွာနားလည်နိုင်ကြရန်အတွက် တမန်တော်များ၏ အမျိုးသားများ၏ ဘာသာစာပေများ၌ပင် ထုတ်ပြန်ချမှတ်တော်မူခဲ့သည်။

တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကမ္ဘာအဝန်းအား တရားဓမ္မဟောညွှန်ပြတော်မူရန် ပွင့်လာတော်မူခဲ့၏။ တမန်တော်မြတ်သည် အရဗ်လူမျိုးတို့ထံသို့ ပွင့်လာတော်မူခဲ့၏။ ၎င်းတို့၏ ဘာသာစာပေမှာ အရဗီဘာသာစာပေဖြစ်၏၊ သို့ဖြစ်ပေရာ တမန်တော်မြတ်၏ တရားဒေသနာတော်များကို ဦးစွာပထမ ကြားသိကြရသော အမျိုးသားများနှင့် ရှေးဦးမဆွ ပထမဖြစ်ကြသည့် တပည့်နောက်လိုက်များသည် အရဗ်အမျိုးသားများ ဖြစ်ခဲ့ကြပေသည်။ ၎င်းတို့သည် တမန်တော်မြတ်၏ တရားဒေသနာတော်များကို လွယ်လင့်တကူ နားလည်သဘောပေါက်ပြီး ကမ္ဘာအဝန်းသို့လည်းကောင်း၊ ၎င်းတို့မှတစ်ဆင့် ကမ္ဘာတစ်သက် လူမျိုးအသီးသီးသို့လည်းကောင်း၊ ဖြန့်ချီနိုင်ရန်အလို့ငှာ အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်ကို ဂုဏ်ထူးဝိသေသနှင့်ပြည့်စုံသော အရဗီဘာသာစာပေနှင့်ပင် ထုတ်ပြန်ပို့ချတော်မူခဲ့သည်။ ဤကား သဘာဝအတိုင်းပင်၊ ဤအတိုင်းလည်းဖြစ်ခဲ့သည်မှာ အထင်အရှားပင်။

➤➤

وَلَقَدْ أَرْسَلْنَا مُوسَىٰ بِآيَاتِنَا أَنْ أَخْرِجْ قَوْمَكَ مِنَ الظُّلُمَاتِ إِلَى النُّورِ وَذَكِّرْهُم بِأَيَّامِ اللَّهِ ۚ إِنَّ فِي ذَٰلِكَ لَآيَاتٍ لِّكُلِّ صَبَّارٍ شَكُورٍ ⑤

၅။ ထိုမှတစ်ပါး ဧကန်မလွဲငါအရှင်မြတ်သည်(နဗီ တမန်တော်)မူစာအား မိမိသက်သေလက္ခဏာတော်များနှင့်တကွ [၁] စေလွှတ်တော်မူ(၍ ဤသို့ အမိန့်တော် ထုတ်ပြန်တော်မူ)ခဲ့၏။ အသင်သည် မိမိအမျိုးသားတို့ကိုအမှောင်ထုမှအလင်းသို့ ထုတ်ဆောင်ပါလေ။ ထိုမှတစ်ပါး အသင်သည် ယင်းအမျိုးသားတို့အား အလ္လာဟ်အရှင်မြတ် ကျေးဇူးတော်မူများကို ပြန်လည်၍သတိရစေပါလေ။ ဧကန်မလွဲ ယင်းကျေးဇူးတော်များတွင်အလွန်ခန္တီတရားထားရှိသူတိုင်း၊ အလွန်ကျေးဇူးတော်ကို သိတတ်သူတိုင်းအဖို့ သက်သေလက္ခဏာများသည် ရှိကုန်သတည်း။ [၂]

---

➤➤ အရဗ်အမျိုးသားတို့သည် အရဗီဘာသာစာပေကို တစ်ဖက်ကမ်းခတ်အောင် ကျွမ်းကျင်ခဲ့ကြ၏၊ မိမိတို့၏ ဘာသာစာပေကိုလည်း အမြတ်တနိုး ထားခဲ့ကြ၏။ ၎င်းတို့သည် တမန်တော်မြတ်ထံမှ မိမိတို့ မြတ်နိုးသော၊ ကျွမ်းကျင်သော အရဗီဘာသာစာပေဖြင့် ထုတ်ပြန်ချမှတ်ထားတော်မူသော ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို တိကျမှန်ကန်စွာ နားလည်သဘောပေါက်နိုင်ခဲ့ကြ၏။ အံ့မဆုံး မှတ်ယူထိန်းသိမ်းနိုင်ခဲ့ကြ၏၊ ကမ္ဘာ့အဝန်းသို့လည်း ဖြန့်ချီနိုင်ခဲ့ကြ၏။

ထိုမျှမကသေး ကုရ်အာန်ကျမ်းလာ ဒေသနာတော်များသည် ကမ္ဘာအရပ်ရပ်သို့ ပျံ့နှံ့သွားသောအခါ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် အရဗ်မဟုတ်သော အခြားအမျိုးသားတို့၏ စိတ်နှလုံးများတွင် အရဗီဘာသာစာပေကို လေ့လာဆည်းပူးလိုသော ဆန္ဒများသည် ပြင်းပြစွာ ပေါ်ပေါက်လာခဲ့၏၊ သို့ပေါ်ပေါက်လာခဲ့သည့်အလျောက် အရဗ်မဟုတ်သော အမျိုးသားများသည် အရဗီဘာသာစာပေကို လေ့လာလိုက်စားခဲ့ကြရာ အချိန်အနည်းငယ် အတွင်းမှာပင် အရဗီဘာသာစာပေကို ကြေကြေညက်ညက် ပိုင်ပိုင်နိုင်နိုင် တတ်မြောက်လာခဲ့ကြ၏၊ ထိုမျှမက ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ဖွင့်ဆိုရှင်းလင်းပြရာ၌ အရဗ်အမျိုးသားများထက်ပင် တစ်နည်းတစ်ဖုံ သာသွားခဲ့ကြပေသေးသည်၊ ဤသို့အားဖြင့် အလ္လာဟ်အရှင်မြတ်၏ အကြောင်းပြချက်သည် အတည်ဖြစ်လျက်ရှိချေပြီ၊ ထို့ပြင်တစ်ဝ ကုရ်အာန်ကျမ်းမြတ်ကို အရဗ်ဘာသာစာပေဖြင့် အဘယ်ကြောင့် ထုတ်ပြန်ချမှတ်တော်မူခဲ့သနည်းဟူသော အမေးပုစ္ဆာ၏အဖြေလည်း ထင်ရှားသွားပေပြီ။

(၁) ဤအာယတ်တော်တွင် တမန်တော်မူစာအား အလ္လာဟ်အရှင်မြတ် ချီးမြှင့်တော်မူသော 'အာယတ်' တော်များဟူသည် ကျော်ကြားသည့် တန်ခိုးပြာဋိဟာကိုးပါးကို ဆိုလိုသည်။ ကြည့်-ကုရ်အာန် (၁၇း၁၀၁။ ၂၇း၁၂) သို့မဟုတ် တောင်ရာတ်ကျမ်းလာ အာယတ်တော်များ ဖြစ်သည်ဟူ၍လည်း ဆိုနိုင်သည်။

(၂) 'အလ္လာဟ်အရှင်မြတ်၏နေ့များ' ဟူသည် ထိုနေ့များတွင် ဖြစ်ပျက်ခဲ့သည့် အဖြစ်အပျက်များကို ဆိုလိုသည်။ ထိုနေ့ရက်များတွင် တမန်တော်မူစာ၏ အမျိုးသားများသည် အကြီးအကျယ် ဒုက္ခကြီးငယ်များနှင့် တွေ့ကြုံခဲ့ကြရပေသည်။ ထို့နောက်တွင် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် တမန်တော်မူစာ၏ ➤➤

وَاِذۡ قَالَ مُوۡسٰى لِقَوۡمِهِ اذۡكُرُوۡا نِعۡمَةَ اللّٰهِ عَلَيۡكُمۡ اِذۡ اَنۡجٰىكُمۡ مِّنۡ اٰلِ فِرۡعَوۡنَ يَسُوۡمُوۡنَكُمۡ سُوۡٓءَ الۡعَذَابِ وَيُذَبِّحُوۡنَ اَبۡنَآءَكُمۡ وَيَسۡتَحۡيُوۡنَ نِسَآءَكُمۡؕ وَفِىۡ ذٰلِكُمۡ بَلَاۤءٌ مِّنۡ رَّبِّكُمۡ عَظِيۡمٌ ۶

၆။ ၎င်းပြင် (ပြန်လည်၍သတိရကြလေကုန်။) တစ်ရံရောအခါ (နဗီတမန်တော်) မူစာသည် မိမိ အမျိုးသားတို့အား (ဤသို့) ပြောကြားခဲ့လေသည်။ (အချင်းတို့)အသင်တို့သည် မိမိတို့အပေါ်၌ အလ္လာဟ် အရှင်မြတ်၏ ကျေးဇူးတော်ကို သတိရကြလေကုန်။ အကြင်အခါ၀ယ် ထိုအရှင်မြတ်သည် အသင်တို့အား ဖစ်ရ်အောင်န်၏ အခြွေအရံတို့၏ (ဘေးအန္တရာယ် များ)မှ ကယ်ဆယ်တော် မူခဲ့လေသည်။

ယင်း ဖစ်ရ်အောင်န်၏ အခြွေအရံတို့သည် အသင်တို့၌ ပြင်းထန်လှစွာသော ဘေးအန္တရာယ်များ ကို သက်ရောက်စေလျက် ရှိခဲ့ကြကုန်၏။ ထို့ပြင် ၎င်းတို့သည် အသင်တို့၏ သားယောကျ်ားကလေး များကို သတ်ဖြတ်၍၊ အသင်တို့၏ (သမီး) မိန်းကလေးများကိုမူကား အသက်နှင့် ထားလေ့ ရှိခဲ့ကြကုန်၏။

အမှန်သော်ကား ထိုတွင် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် အထံတော် မှ ကြီးကျယ်လှစွာသော စမ်းသပ်မှုသည် ရှိခဲ့ချေ သတည်း။

---

➤➤ အမျိုးသားများအား ထိုသည့် ဘေးဒုက္ခအပေါင်းမှ ကယ်တင်တော်မူခဲ့သည်၊ ကျေးဇူးတော်များလည်း ပြုတော်မူခဲ့သည်၊ ဤကဲ့သို့ ဒုက္ခနှင့် သုခများကို ပြန်လည်သတိရစေခြင်းမှာ သည်းခံသော၊ ကျေးဇူးတော် သိတတ်သော ပုဂ္ဂိုလ်များသည် နောင်တ တရားရယူနိုင်ရန်အတွက် ပင်ဖြစ်သည်။

ဒုက္ခနှင့်တွေ့ကြုံသောအခါ သည်းခံ၍၊ သုခနှင့် တွေ့ကြုံသောအခါ ကျေးဇူးသိတတ်သော ပုဂ္ဂိုလ်များသာလျှင် အောင်မြင်ကြသည်မှာ ရာဇဝင် အထင်အရှားပင်။ တမန်တော်မူစာ၏ အမျိုးသားများသည် ပင်လျှင် အထက်ပါဂုဏ်ရည်များနှင့် ပြည့်စုံသည့်အချိန်များတွင် အောင်မြင်ခဲ့ကြသည်မဟုတ်ပါလော။

ကြည့်-ကုရ်အာန် (၇:၁၃၇)။

وَاِذۡ تَاَذَّنَ رَبُّكُمۡ لَٮِٕنۡ شَكَرۡتُمۡ لَاَزِيۡدَنَّكُمۡ وَلَٮِٕنۡ كَفَرۡتُمۡ اِنَّ عَذَابِىۡ لَشَدِيۡدٌ ۝٧

၇။ ထိုမှတစ်ပါး (ပြန်လည်၍သတိရကြလေကုန်၊) အကြင်အခါဝယ် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် (အသင်တို့အား)အကယ်၍ 'အသင်တို့သည် ကျေးဇူးတော်ကို သိတတ်ခဲ့ကြလျှင်၊ အမှန်ပင် ငါအရှင်မြတ်သည် အသင်တို့အား တိုး၍ ချီးမြှင့်ပေးသနားတော်မူမည်ဖြစ်ကြောင်း၊ သို့ရာတွင် အကယ်၍သာအသင်တို့သည် ကျေးဇူးကန်းခဲ့ကြသည် ရှိသော်၊ ဧကန်မလွဲ ငါအရှင်မြတ်၏ ပြစ်ဒဏ်သည် ပြင်းထန်လှကြောင်း၊ သိစေတော်မူလေသတည်း။

وَقَالَ مُوۡسٰٓى اِنۡ تَكۡفُرُوۡۤا اَنۡتُمۡ وَمَنۡ فِى الۡاَرۡضِ جَمِيۡعًا ۙ فَاِنَّ اللّٰهَ لَغَنِىٌّ حَمِيۡدٌ ۝٨

၈။ ထို့ပြင် (နဗီတမန်တော်) မူစာသည် (မိမိ အမျိုးသားတို့အား ဤသို့) ပြောကြားခဲ့လေသည်။ (အချင်းတို့) အကယ်၍ အသင်တို့နှင့်တကွ ကမ္ဘာမြေဝယ် ရှိသမျှသော သူခပ်သိမ်းတို့သည် ကျေးဇူးကန်းကြပါသော်လည်း၊ (ထိုအရှင်မြတ်၌ တစ်စုံတစ်ရာ ကျိုးယုတ်မှု အလျှင်းမရှိပေ၊ အဘယ်ကြောင့်ဆိုသော်) ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် လိုလားတောင့်တခြင်း ကင်းမဲ့တော်မူသောအရှင်၊ ချီးမွမ်းဖွယ် ဂုဏ်တော်အပေါင်းနှင့် ပြည့်စုံတော်မူသော အရှင်၊ ဖြစ်တော်မူပေသတည်း။ ၁

---

(၁) အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကား အနန္တော အနန္တတည်း။ ထိုအရှင်မြတ်၏ ကျေးဇူးတော်များကို မည်သူမျှ မရေတွက်နိုင်ပေ။ ကြည့်-ကုရ်အာန် (၁၄း၃၄)။ ကျေးဇူးကန်းလျှင် ထိုအရှင်မြတ်၌ စိုးစဉ်းမျှပင် နစ်နာဆုံးရှုံးသည် အလျှင်းမဟုတ်၊ ကျေးဇူးကန်းသူသည်သာလျှင် နစ်နာဆုံးရှုံးရပေမည်။

အလ္လာဟ်အရှင်မြတ်သည် သူတစ်ပါး၏ ချီးမွမ်းခြင်း၊ ကျေးဇူးသိခြင်းများကို လိုလားတောင့်တတော်မူသောအရှင်မဟုတ်ပေ။ ထိုအရှင်မြတ်သည် မိမိအား ကျေးဇူးတင်သူရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ၊ မိမိအား ချီးမွမ်းသူရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ၊ ထိုအရှင်မြတ်၌ စိုးစဉ်းမျှ ထိခိုက်သည်အလျှင်းမရှိပေ။

အဘယ်ကြောင့် ဆိုသော် ထို အရှင်မြတ်သည် ခပ်သိမ်းကုန်သော တောင်းတမှု၊ ကြောင့်ကြမှု အပေါင်းတို့မှ လုံးဝ ကင်းစင်တော် မူသော အရှင်၊ ချီးမွမ်းဖွယ် အပေါင်းနှင့် ပြည့်စုံတော်မူသော အရှင် ဖြစ်တော်မူပေသည်။

أَلَمْ يَأْتِكُمْ نَبَؤُا الَّذِينَ مِن
قَبْلِكُمْ قَوْمِ نُوحٍ وَعَادٍ
وَثَمُودَ ۛ وَالَّذِينَ مِن
بَعْدِهِمْ ۛ لَا يَعْلَمُهُمْ
إِلَّا اللَّهُ ۚ جَاءَتْهُمْ
رُسُلُهُم بِالْبَيِّنَاتِ فَرَدُّوا
أَيْدِيَهُمْ فِي أَفْوَاهِهِمْ
وَقَالُوا إِنَّا كَفَرْنَا بِمَا
أُرْسِلْتُم بِهِ وَإِنَّا لَفِي شَكٍّ
مِّمَّا تَدْعُونَنَا إِلَيْهِ مُرِيبٍ ﴿٩﴾

၉။ အသင်တို့ထံ အသင်တို့အလျင် ရှိခဲ့ကြဘူးသော နူးဟ်၏အမျိုးသားများ၊ အာဒ်အမျိုးသားများ၊ ဆမူဒ်အမျိုးသားများနှင့် ၎င်းတို့နောက်တွင် ရှိခဲ့ဖူးကြသောသူတို့၏သတင်းသည် *မရောက်ရှိခဲ့လေသလော၊*[၁] ၎င်းတို့အား အလ္လာဟ်အရှင်မြတ်မှတစ်ပါး အတိအကျ မည်သူမျှ မသိပေ။

၎င်းတို့ထံ ၎င်းတို့၏ ရစူလ်တမန်တော်များသည် ထင်ရှားသော သက်သေသာဓကများကို ယူဆောင်လာခဲ့ကြကုန်၏။ သို့ရာတွင် ၎င်းတို့သည် မိမိတို့၏လက်များကို ယင်းရစူလ်တမန်တော်များ၏ ပါးစပ်များထဲသို့ (တစ်နည်း) *မိမိတို့၏ ပါးစပ်များထဲသို့ တွန်းထိုးခဲ့ကြကုန်၏။*[၂] ထိုမှတစ်ပါး၎င်းတို့က (ဤသို့)ပြောဆိုခဲ့ကြကုန်၏၊ ဧကန်စင်စစ် ကျွန်ုပ်တို့သည် အကြင်အရာကို ငြင်းပယ်ခဲ့ကြလေပြီ။ အသင်တို့သည် ထိုအရာနှင့်တကွ စေလွှတ်ခြင်းခံခဲ့ကြရလေသည်။ ၎င်းပြင် ဧကန်မလွဲ ကျွန်ုပ်တို့သည် အကြင်အရာနှင့်စပ်လျဉ်း၍ ယုံမှားသံသယဖြစ်စေသော ဒွိဟဥ္စပင်ရှိကြပေသည်။ အသင်တို့သည် ကျွန်ုပ်တို့အား ထိုအရာဘက်သို့ ဖိတ်ခေါ်လျက်ရှိကြကုန်သည်။

---

(၁) ဆိုလိုသည်ကား အရဗ်အမျိုးသားများသည် မိမိတို့အလျင် ရှိခဲ့ကြသော အမျိုးသားတို့၏ ဖြစ်စဉ်ဖြစ်ရပ်များကို ဆင်ခြင်၍ နောင်တတရားရသင့်ကြပြီ၊ အရဗ်အမျိုးသားတို့အလျင် ကမ္ဘာတွင် မြောက်မြားစွာသော အမျိုးသားများ ရှိခဲ့ကြ၏၊ ၎င်းတို့၏ သမိုင်းစဉ် အတ္ထုပ္ပတ္တိ ဖြစ်စဉ်ဖြစ်ရပ်များကို အလ္လာဟ်အရှင်မြတ်မှတစ်ပါး အတိအကျ မည်သူမျှမသိပေ။ သို့တစေလည်း အတိတ်ခေတ် အမျိုးသားတို့အနက် အချို့အမျိုးသားများ၏ သတင်း၊ အထူးသဖြင့် တမန်တော်နူးဟ်၏ အမျိုးသားများ၏သတင်း၊ အာဒ်အမျိုးသားများ၏သတင်း၊ ဆမူဒ်အမျိုးသားများ၏သတင်းနှင့် ထိုအမျိုးသားများ၏ နောက်တွင်ရှိခဲ့ကြသော အမျိုးသားများ၏ သတင်းများသည် အရဗ်အမျိုးသားတို့ထံတွင် အတော်ပင်ကျော်ကြားခဲ့၏၊ ထိုအမျိုးသားများသည် နောက်ဆုံးတွင် အသို့ ပျက်စီးသွားခဲ့ကြသည့် သတင်းများသည်လည်း အရဗ်အမျိုးသားတို့ထံ ရောက်ရှိပြီးဖြစ်၏။ ထိုထိုသော အမျိုးသားများ မိမိတို့အလျင်က မရှုမလှ ပျက်စီးသွားခဲ့ကြသည်များကို သိရှိပါလျက် အရဗ်အမျိုးသားတို့သည် ယခုတိုင် နောင်တတရား မရရှိကြသေးသည်မှာ အံ့ဖွယ်ပင်။

قَالَتْ رُسُلُهُمْ أَفِي اللَّهِ شَكٌّ فَاطِرِ السَّمَاوَاتِ وَالْأَرْضِ ۖ يَدْعُوكُمْ لِيَغْفِرَ لَكُمْ مِنْ ذُنُوبِكُمْ وَيُؤَخِّرَكُمْ إِلَىٰ أَجَلٍ مُسَمًّى ۚ قَالُوا إِنْ أَنْتُمْ إِلَّا بَشَرٌ مِثْلُنَا تُرِيدُونَ أَنْ تَصُدُّونَا عَمَّا كَانَ يَعْبُدُ آبَاؤُنَا فَأْتُونَا بِسُلْطَانٍ مُبِينٍ ⑩

၁၀။ ၎င်းတို့၏ ရစူလ်တမန်တော်များက (၎င်းတို့အား) 'အသို့ပါနည်း၊ (အသင်တို့၌) အလ္လာဟ် အရှင်မြတ်နှင့်ပတ်သက်၍ ဒွိဟ သံသယ ရှိနေပါသလော။ ထိုအရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

ထိုအရှင်မြတ်သည် အသင်တို့အားအသင်တို့၏ပြစ်မှုများမှ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူအံ့သောငှာလည်းကောင်း၊ အသင်တို့အားကန့်သတ်ထားသော အချိန်ကာလတိုင်အောင် ရွှေ့ဆိုင်းတော်မူအံ့သောငှာလည်းကောင်း၊ ဖိတ်ခေါ်တော်မူလေသည်ဟု ပြောဆိုဖြေကြားခဲ့လေသည်။ (ထိုရောအခါဝယ်) ၎င်းတို့က (မိမိတို့၏ ရစူလ်တမန်တော်များအား ဤသို့ တုံ့ပြန်)ပြောဆိုကြလေသည်။ 'အသင်တို့သည် ကျွန်ုပ်တို့ကဲ့သို့ပင် လူသားမျှသာ ဖြစ်ကြပေသည်။

အသင်တို့သည် ကျွန်ုပ်တို့အား၊ ကျွန်ုပ်တို့၏ အဘ ဘိုးဘေးများ ကိုးကွယ်လျက် ရှိခဲ့ကြသည်ကိုမှ ပိတ်ပင်တားဆီးရန် ကြံရွယ်ကြပေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် ကျွန်ုပ်တို့ထံ ထင်ရှားသော တန်ခိုးပြာဋိဟာကို ယူဆောင်ခဲ့ ကြလေကုန်'။

(၂) ဆိုလိုသည်ကား အတိတ်ခေတ်များတွင် လူမျိုးအသီးသီးတို့ထံသို့ တမန်တော်များသည် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော်များကို ယူဆောင်၍ ပွင့်လာခဲ့ကြ၏၊ အလ္လာဟ်အရှင်မြတ်၏ တရားဒေသနာတော်များကို ဟောကြားခဲ့ကြ၏၊ ထိုအခါ ကာဖိရ်များသည် ဒေါသအမျက်ခြောင်းခြောင်းထွက်၍ မိမိတို့၏ လက်များကိုပင် ကိုက်ခဲခဲ့ကြလေသည်၊ ဤသည့်သဘောကို ကုရ်အာန် ကျမ်းမြတ် (၃း၁၁၈) တွင်လည်း မိန့်ဆိုထားတော်မူသည်။

قَالَتْ لَهُمْ رُسُلُهُمْ إِن نَّحْنُ إِلَّا بَشَرٌ مِّثْلُكُمْ وَلَٰكِنَّ اللَّهَ يَمُنُّ عَلَىٰ مَن يَشَاءُ مِنْ عِبَادِهِ ۖ وَمَا كَانَ لَنَا أَن نَّأْتِيَكُم بِسُلْطَانٍ إِلَّا بِإِذْنِ اللَّهِ ۚ وَعَلَى اللَّهِ فَلْيَتَوَكَّلِ الْمُؤْمِنُونَ ⑪

၁၁။ ၎င်းတို့အား ၎င်းတို့၏ ရစူလ်တမန်တော်များက (ဤသို့)ပြောဆိုဖြေကြားခဲ့ပေသည်။ (အချင်းတို့၊ ဧကန်မလွဲ) ငါတို့သည် အသင်တို့ကဲ့သို့ပင် လူသားများသာဖြစ်ကြပေသည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် မိမိကျွန်များအနက်မှ မိမိအလိုရှိတော်မူသောသူအပေါ်၌ ကျေးဇူးပြုတော်မူလေ့ ရှိပေသည်။

စင်စစ်သော်ကားငါတို့၌ အလ္လာဟ်အရှင်မြတ်၏ ခွင့်ပြုချက်ဖြင့်မှတစ်ပါး အသင်တို့ထံ တန်ခိုးပြဒ္ဒိဟာ တစ်စုံတစ်ခုကို ယူဆောင်လာကြရန် အခွင့်အာဏာမရှိပေ။ အမှန်သော်ကား မုအ်မင်န် သက်ဝင်ယုံကြည်သူတို့သည် အလ္လာဟ်အရှင်မြတ်အပေါ်၌သာလျှင် အားကိုးအားထား ယုံပုံလွှဲအပ်ကြရာကုန်သတည်း။

وَمَا لَنَا أَلَّا نَتَوَكَّلَ عَلَى اللَّهِ وَقَدْ هَدَانَا سُبُلَنَا ۚ وَلَنَصْبِرَنَّ عَلَىٰ مَا آذَيْتُمُونَا ۚ وَعَلَى اللَّهِ فَلْيَتَوَكَّلِ الْمُتَوَكِّلُونَ ⑫

၁၂။ စင်စစ်သော်ကား ငါတို့သည် အလ္လာဟ်အရှင်မြတ်အပေါ်၌ ယုံပုံ လွှဲအပ် ထားခြင်းကို မပြုကြရန် ငါတို့၌မည်သည့်အကြောင်း ရှိပါသနည်း၊ အမှန် သော်ကား ထိုအရှင်မြတ်သည် ငါတို့အား ငါတို့၏ (အကျိုးဖြစ်ထွန်းစေမည့်) လမ်းများကို ညွှန်ကြား ပြသတော်မူခဲ့လေသည်။

၎င်းပြင် အမှန်ပင် ငါတို့သည် အသင်တို့ ငါတို့အား ဘေးဒုက္ခပေးခဲ့ကြသည်များနှင့်စပ်လျဉ်း၍ မုချ သည်းခံကြရတော့မည် ဖြစ်ပေသည်၊ သို့ဖြစ်ပေရာ အမှန်စင်စစ် ယုံပုံလွှဲအပ် အားကိုးအားထားသူတို့သည် အလ္လာဟ်အရှင်မြတ် အပေါ်၌သာလျှင် ယုံပုံလွှဲအပ် အားကိုး အားထား ပြုလုပ်ကြရာ ကုန်သတည်း။

وَقَالَ الَّذِيْنَ كَفَرُوْا لِرُسُلِهِمْ لَنُخْرِجَنَّكُمْ مِّنْ اَرْضِنَآ اَوْ لَتَعُوْدُنَّ فِيْ مِلَّتِنَا ؕ فَاَوْحٰٓى اِلَيْهِمْ رَبُّهُمْ لَنُهْلِكَنَّ الظّٰلِمِيْنَ ﴿١٣﴾

၁၃။ ထိုမှတစ်ပါး ကာဖိရ် မယုံမကြည် သွေဖည် ငြင်းပယ်ကြကုန်သောသူတို့သည် မိမိတို့ ရစူလ် တမန်တော်များအား ဧကန်မလွဲ ကျွန်ုပ်တို့သည် အသင်တို့အား ကျွန်ုပ်တို့၏ မြို့ရွာ၊ နယ်မြေအတွင်းမှ မုချနှင်ထုတ်ကြပေမည်။ သို့တည်းမဟုတ် အသင်တို့သည် ကျွန်ုပ်ကို၏သာသနာထဲသို့ မုချပြန်ဝင်ကြရလိမ့်မည်ဟုပြောဆို (ခြိမ်းခြောက်)ခဲ့လေသည်။[၁] ထိုရောအခါဝယ် ၎င်းရစူလ်တမန်တော်များထံ ၎င်းတို့၏အရှင်မြတ်က 'မလွဲဧကန်ငါအရှင်မြတ်သည် (ဤသို့) မတရားပြုမူသောသူတို့အား မုချပျက်စီးစေတော်မူအံ့' ဟု အမိန့်တော် ချပေးတော်မူခဲ့လေသတည်း။

وَلَنُسْكِنَنَّكُمُ الْاَرْضَ مِنْۢ بَعْدِهِمْ ؕ ذٰلِكَ لِمَنْ خَافَ مَقَامِيْ وَخَافَ وَعِيْدِ ﴿١٤﴾

၁၄။ ၎င်းပြင် အမှန်ပင် ငါအရှင်မြတ်သည် ၎င်းတို့မရှိကြသည့်နောက်တွင် အသင်တို့အား မြို့ရွာနယ်မြေ၌ နေရာချ၍ ပေးတော်မူအံ့။ ဤ(ကတိဝန်ခံချက်)သည်ကား ငါအရှင်မြတ်၏ ရှေ့တော်မှောက်ဝယ် မတ်တတ်ရပ်ရမည်ကို စိုးရိမ်သောသူ၏အဖို့လည်းကောင်း၊ ငါအရှင်မြတ် ချိန်းချက်ထားတော်မူသောပြစ်ဒဏ်ကို ကြောက်ရွံ့သောသူ၏အဖို့လည်းကောင်း၊ ဖြစ်ပေသတည်း။

---

(၁) ကာဖိရ်များသည် တမန်တော်များအား အဖြေမပေးနိုင်သည့်အဆုံးတွင် အသင်တို့သည် ယခင်အတိုင်း ဆိတ်ဆိတ်နေကြလျှင် အသင်တို့၏ နောက်သို့ ယောင်မှားလိုက်ပါသွားသောသူများသည် ကျွန်ုပ်တို့၏ မိရိုးဖလာ မူလဘာသာအတွင်းသို့ ပြန်လည်ရောက်ရှိလာကြပေမည်။ သို့မဟုတ်ပါက ကျွန်ုပ်တို့သည် အသင်တို့အားလုံးကို တိုင်းပြည်မှ နှင်ထုတ်ကြမည်ဖြစ်သည်ဟု ခြိမ်းခြောက်ကြလေတော့သည်။ ကာဖိရ်များသည် ယင်းသို့ စည်းကမ်းကျူးကျော်လာကြသောအခါ အလ္လာဟ်အရှင်မြတ်က အသင်တို့သည် ငါ၏ မွတ်စ်လင်မ်များအား တိုင်းပြည်မှ အသို့လျှင် နှင်ထုတ်နိုင်ကြအံ့နည်း၊ ငါအရှင်မြတ်သည် ကျူးကျော်စော်ကားသော ကာဖိရ်များအား ကွပ်မျက်ဖျက်ဆီးတော်မူပြီး ၎င်းတို့၏နေရာတွင် မွတ်စ်လင်မ်များအား နေရာချထားတော်မူမည်ဟု မိန့်ကြားတော်မူလိုက်လေသည်။ သို့မိန့်ကြားတော်မူသည့်အတိုင်းလည်း ကမ္ဘာ့ရာဇဝင် အဆက်ဆက်တွင် ဤအတိုင်းပင် ဖြစ်ပေါ်ခဲ့သည်။

နောက်ဆုံးတွင် မက္ကာမြို့သား ကာဖိရ်များက တမန်တော်မြတ်နှင့်တကွ မွတ်စ်လင်မ်တို့အား ➤➤

وَاسْتَفْتَحُوا وَخَابَ كُلُّ جَبَّارٍ عَنِيدٍ ⑮

၁၅။ ယင်း(ရစူလ်တမန်တော် သို့မဟုတ် ယင်းကာဖိရ် သွေဖည်ငြင်းပယ်သောသူ)တို့သည် အကူအညီ သို့မဟုတ် အဆုံးအဖြတ်တောင်းခဲ့ကြလေသည်။ ထိုအခါ ခေါင်းမာသောမောက်မာသူအသီးသီးတို့သည် ရည်ရွယ်ချက် (မအောင်မြင်) ပျက်စီးဆုံးပါးခဲ့လေသတည်း။

مِّن وَرَآئِهِۦ جَهَنَّمُ وَيُسْقَىٰ مِن مَّآءٍ صَدِيدٍ ⑯

၁၆။ ၎င်း၏ရှေ့ဝယ် ဂျဟန္နမ်ငရဲဘုံသည် ရှိနေပေသည်။ ၎င်းပြင် ယင်းသည် ပြည်ပုပ်ရေတိုက်ကျွေးခြင်းကို ခံရပေမည်။

يَتَجَرَّعُهُۥ وَلَا يَكَادُ يُسِيغُهُۥ وَيَأْتِيهِ ٱلْمَوْتُ مِن كُلِّ مَكَانٍ وَمَا هُوَ بِمَيِّتٍ ۖ وَمِن وَرَآئِهِۦ عَذَابٌ غَلِيظٌ ⑰

၁၇။ (၎င်းသည် ယင်းပြည်ပုပ်ရေကို တစ်ကျိုက်စီသောက်မျိုအံ့၊ သို့ရာတွင် ၎င်းသည် ယင်းပြည်ပုတ်ရေကို လည်ချောင်းအောက် ခဲယဉ်းစွာ မျိုချရလတ္တံ့)။ ၎င်းပြင် မရဏသေခြင်းတရားသည် အဖက်ဖက်မှ ယင်း၏ထံသို့ ရောက်ရှိလာပေအံ့။ သို့ရာတွင် ၎င်းမှာမူကား သေဆုံးနိုင်မည်မဟုတ်ပေ။ ထိုမှတပါး ၎င်း၏ရှေ့၌ ပြင်းထန်လှစွာသော (အခြား)ပြစ်ဒဏ်တစ်မျိုးလည်း ရှိအံ့သတည်း။ ၁

➤➤ မက္ကာနယ်မြေမှ အမြဲတစေ နှင်ထုတ်ရန် ကြိုးပမ်းခဲ့ကြ၏။ တမန်တော်မြတ်နှင့် အချို့မွတ်စ်လင်မ်များ ခေတ္တ မက္ကာမြို့မှ ထွက်ခွာသွားခဲ့ကြရ၏။ သို့တစေလည်း အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ဖြင့် ယင်းသို့ခေတ္တ ထွက်ခွာခဲ့ရခြင်းသည်ပင် မက္ကာမြို့တော်၌ မွတ်စ်လင်မ်များ အမြဲတစေနေနိုင်ရန် အကြောင်းဖြစ်လာခဲ့ပေသည်။ မက္ကာမြို့မှ မွတ်စ်လင်မ်များအား နှင်ထုတ်လိုကြသော ကာဖိရ်များသည် ၎င်းတို့ကိုယ်တိုင်ပင် မက္ကာမြို့၌ ခြေမချနိုင်တော့ပေ။

ဤအာယတ်တော်နှင့် ဆက်စပ်၍ ကုရ်အာန်(၃၇း၁၇၁- ၁၇၃။ ၅၈း ၂၀-၂၂။ ၇း၁၂၈-၁၂၉။ ၉း၃၃။ ၄၈း၂၈။ ၆၁း၉)ကိုလည်း ဆင်ခြင်ပါကုန်။

(၁) ကာဖိရ်များသည် ဂျဟန္နမ်အတွင်း၌ ပြည်ပုပ်ရေများ တိုက်ကျွေးခြင်း ခံကြရပေမည်။ ငရဲသားတို့သည် ပြည်ပုပ်ရေများကို ရောရှူစွာ မျိုချနိုင်ကြမည်ပင် မဟုတ်ပေ။ ထိုပြည်ပုပ်ရေများကို သောက်သုံးခြင်းသည် အဖက်ဖက်မှ သေမင်းကို လက်ယပ်ခေါ်ခြင်းပင် ဖြစ်သည်။ ခံစားရသော ပြစ်ဒဏ်များ၏ ပြင်းထန်မှုကြောင့် ငရဲသားများသည် သေလိုကြပေမည်။ သို့ရာတွင် ၎င်းတို့သည် သေချင်လိုတိုင်းလည်း သေနိုင်ကြမည်➤➤

**(တစ်နည်း)**

ထို(မောက်မာခေါင်းမာ)သူသည် ထိုပြည်ပုပ်ရေကို(အလွန်မွတ်သိပ်သည့်အတွက်) တစ်ကျိုက်စီသောက်မျိုအံ့၊ သို့ရာတွင် (အလွန်ပူလောင် စက်ဆုပ်ရွံ့ရှာဖွယ်ဖြစ်သည့်အတွက်) ထိုပြည်ပုပ်ရေကို လွယ်ကူစွာ အလျှင်းမျိုချနိုင်မည်မဟုတ်ပေ။ ၎င်းပြင် မရဏာသေခြင်းတရားသည် အဖက်ဖက်မှ ထိုသူ့ထံသို့ ရောက်ရှိလာပေအံ့။ သို့ရာတွင်ထိုသူမှာမူကား သေနိုင်မည်မဟုတ်ပေ။ (မသေမရှင်အဖြစ်နှင့် ပြစ်ဒဏ်ခံစား၍ နေရမည်သာဖြစ်သည်။) ထိုမှတစ်ပါး ၎င်း၏ ရှေ့တွင် (ပိုမို)ပြင်းထန်လှစွာသော အခြားပြစ်ဒဏ်သည်လည်း ရှိနေမည်သာဖြစ်သည်။ ထာနုဝီ။

مَثَلُ الَّذِيْنَ كَفَرُوْا بِرَبِّهِمْ اَعْمَالُهُمْ كَرَمَادِ ۨاشْتَدَّتْ بِهِ الرِّيْحُ فِيْ يَوْمٍ عَاصِفٍ ؕ لَا يَقْدِرُوْنَ مِمَّا كَسَبُوْا عَلٰى شَيْءٍ ؕ ذٰلِكَ هُوَ الضَّلٰلُ الْبَعِيْدُ ⑱

**၁၈။** မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အား *သွေဖည်ငြင်းပယ်ခဲ့ကြကုန်သော သူတို့၏ အကျင့်သီလများ၏ဥပမာကားအကြင် ပြာနှင့်တူပေသည်။* [၁] ထိုပြာကို လေမုန်တိုင်းကျသောနေ့တွင် လေသည် ပြင်းထန်စွာ တိုက်ခတ် ခဲ့လေသည်။ ၎င်းတို့သည် မိမိတို့ ရှာဖွေ ဆည်းပူးခဲ့ကြသော အရာများအနက်မှ မည်သည့်တစ်စုံတစ်ရာ (အကျိုးကျေးဇူး)ကိုမျှ (ခံစားနိုင်ရန်) တတ်စွမ်းနိုင်ကြမည်မဟုတ်ပေ။ ဤသည် အလွန်ဝေးစွာသောလမ်းမှားခြင်းပင် ဖြစ်ချေသတည်း။

---

➤➤ မဟုတ်ပေ၊ ဤလည်း ပြစ်ဒဏ်တစ်ရပ်ပင်။ ဤသည့် သဘောကိုကုရ်အာန်ကျမ်းမြတ်တော် (၁၈း၂၉။ ၄၇း၁၅) တွင်လည်း မိန့်ဆိုထားတော်မူသည်။

ငရဲသားများသည် ပြစ်ဒဏ်များကို တစ်ခုပြီးတစ်ခု ဆက်၍ဆက်၍သာ ခံကြရမည်၊ ပြစ်ဒဏ်များမှာလည်း တစ်ခုပြီးတစ်ခု ပို၍ပို၍ ပြင်းထန်မည်သာဖြစ်သည်။ အမြဲတစေ ခံစား၍သာနေရပေမည်။ ငရဲတွင် ဒုက္ခကား အသို့လျှင် ဆိတ်သုဉ်းသွားနိုင်အံ့နည်း။ ကြည့်-ကုရ်အာန် (၄း၅၆။ ၂၀း၇၄)။

(၁) ကိယာမတ်နေ့တွင် ကာဖိရ်များသည် ခဲလေသမျှသဲရေကျ ဖြစ်ရပေမည်။ အဘယ်ကြောင့်ဆိုသော်➤➤

ٱلَمۡ تَرَ أَنَّ ٱللَّهَ خَلَقَ ٱلسَّمَٰوَٰتِ وَٱلۡأَرۡضَ بِٱلۡحَقِّۚ إِن يَشَأۡ يُذۡهِبۡكُمۡ وَيَأۡتِ بِخَلۡقٖ جَدِيدٖ ﴿١٩﴾

၁၉။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ (တိကျ) မှန်ကန်စွာ ဖန်ဆင်းတော်မူခဲ့သည်ကို အသင်သည်မမြင်လေသလော။ အကယ်၍သာ ထိုအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် အသင်တို့အား ဖယ်ရှားတော်မူ၍ အဖန်ဆင်းခံအသစ် (အသင်တို့အစား) ယူဆောင်လာတော်မူပေမည်။ [၁]

وَمَا ذَٰلِكَ عَلَى ٱللَّهِ بِعَزِيزٖ ﴿٢٠﴾

၂၀။ စင်စစ်မူကား ဤသည် အလ္လာဟ်အရှင်မြတ်အပေါ်၌ (လုံး၀) ခဲယဉ်းသည် မဟုတ်ပေ။

وَبَرَزُواْ لِلَّهِ جَمِيعٗا فَقَالَ ٱلضُّعَفَٰٓؤُاْ لِلَّذِينَ ٱسۡتَكۡبَرُوٓاْ إِنَّا كُنَّا لَكُمۡ تَبَعٗا فَهَلۡ أَنتُم مُّغۡنُونَ عَنَّا مِنۡ عَذَابِ ٱللَّهِ مِن شَيۡءٖۚ قَالُواْ لَوۡ هَدَىٰنَا ٱللَّهُ لَهَدَيۡنَٰكُمۡۖ سَوَآءٌ عَلَيۡنَآ

၂၁။ အမှန်စင်စစ်မှာမူကား ၎င်းတို့အားလုံးသည် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင် ရောက်ရှိလာကြမည်သာတည်း၊ ထိုအခါ အားအင်ချည့်နဲ့သောသူတို့က(နောက်လိုက်များက) မောက်မာ ပလွှားခဲ့ကြသူတို့ (ရှေ့ဆောင် အကြီးအကဲ)တို့အား ဧကန်မလွဲ ကျွန်ုပ်တို့သည် အသင်တို့၏ နောက်လိုက်များသာ ဖြစ်ခဲ့ကြပေရာ (ယနေ့မူကား) အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်များအနက်မှ အနည်းငယ်မျှကိုပင် ကျွန်ုပ်တို့ထံမှ *ဖယ်ရှားပေးနိုင်ကြပါသလောဟု* [၂] ပြောဆို (မေးမြန်း)ခဲ့ကြပေမည်၊

---

➤➤ ၎င်းတို့အားထားနေခဲ့ကြသော ၎င်းတို့၏ အကျင့်အမူများသည် တကယ်အရေးကြီးသည့် အချိန်တွင် အချည်းအနှီးဖြစ်သွားပေမည်၊ ပြာသဖွယ် ပျောက်ကွယ်သွားပေမည်။ မာဂျိဒီ။

(၁) မိုးများနှင့်မြေကို စတင်ဖန်ဆင်းထားတော်မူသော အလ္လာဟ်အရှင်မြတ်သည် အဖန်ဆင်းခံအသစ်များကို ဖန်ဆင်းတော် မူနိုင်ကြောင်း၊ အဖန်ဆင်းခံအသစ်ကို ဖန်ဆင်းတော်မူနိုင်သော အရှင်သည် အဖန်ဆင်းခံအဟောင်းများကိုလည်း ပြန်လည်ဖန်ဆင်းတော် မူနိုင်ကြောင်း ဤအာယတ်တော် (၁၄း၁၉-၂၀) ဖြင့်လည်း ကောင်းစွာ သိရှိနိုင်ပေသည်။ ထာနဝီ။

ဤအာယတ်တော်များနှင့် ဆက်စပ်၍ ကုရ်အာန် (၃၆း၇၇-၈၃) ကို ဆင်ခြင်ပါက လွယ်ကူစွာ သဘောပေါက်နိုင်ပေသည်။

(၂) ကိယာမတ်နေ့တွင် ကာဖိရ် နောက်လိုက်ယ်များက မိမိတို့၏ကာဖိရ် ရှေ့ဆောင်အကြီးအကဲတို့အား➤➤

أَجَزِعْنَا أَمْ صَبَرْنَا مَا لَنَا مِن مَّحِيصٍ ﴿٢١﴾

(ထိုအခါ)၎င်းတို့က အကယ်၍သာ အလ္လာဟ် အရှင်မြတ်သည် ကျွန်ုပ်တို့အား (တရား)လမ်းမှန်ကို ညွှန်ပြတော် မူခဲ့ပါလျှင် ကျွန်ုပ်တို့သည်လည်း အသင်တို့အား (တရား)လမ်းကို ညွှန်ပြကြမည် ဖြစ်သည်၊ (ယခုမူ)ကား အသင်တို့ ကျွန်ုပ်တို့အဖို့ မှာ အသင်တို့ ကျွန်ုပ်တို့သည် ငိုကြွေးကြသည်ဖြစ်စေ၊ သည်းခံကြသည်ဖြစ်စေ၊ အကြောင်းမထူးတော့ပြီ။ (မည်သို့ပင်ဖြစ်စေ) ကျွန်ုပ်တို့အဖို့မူကား ထွက်ပြေး (လွတ်မြောက်)ကြရန်မည်သည့်နေရာမျှ အလျှင်း မရှိတော့ပြီတကား ဟု ပြောဆို ဖြေကြားကြပေမည် သာတည်း။

---

➤➤ 'လူကြီးမင်းများသည် ပစ္စက္ခဘဝတွင် ကျွန်တော်တို့၏ ခေါင်းဆောင်ကြီးများ ဖြစ်ခဲ့ကြပါသည်၊ ကျွန်တော်တို့သည် ခေါင်းဆောင်ကြီးများ ချမှတ်ခဲ့သော လမ်းစဉ်များကို တစ်သဝေမတိမ်း လိုက်နာကျင့်သုံးခဲ့သည်။ ယခုကျွန်တော်တို့သည် ဒုက္ခနှင့်ရင်ဆိုင်ကြရပါသည်၊ ထို့အတွက် ခေါင်းဆောင်ကြီးများသည် အလ္လာဟ် အရှင်မြတ်၏ အပြစ်ဒဏ်တော်မှ အနည်းငယ်မျှကိုပင် ဖယ်ရှားပေးတော်မူကြပါ' ဟု အနူးအညွတ် မေတ္တာရပ်ခံကြလိမ့်မည်။

နောက်လိုက်များက ခေါင်းဆောင်ကြီးများအား ယခုကဲ့သို့ မေတ္တာရပ်ခံခြင်းမှာ -ဂျဟန္နမ်ငရဲသို့ လားပြီးနောက်တွင် မေတ္တာရပ်ခံခြင်းလည်း ဖြစ်နိုင်သည်၊ 'မဟ်ရှရ်' ကွင်းပြင်ကြီး၌ မေတ္တာရပ်ခံခြင်းလည်း ဖြစ်နိုင်သည်၊ မဟ်ရှရ်တွင် အချင်းချင်းပြစ်တင်ကြမည့်အကြောင်း ကုရ်အာန် (၃၄း၃၁-၃၄) တွင်ပါရှိသည်။ အိဗ်နုကဆီရ်ကမူ ကုရ်အာန်ကျမ်းလာ အာယတ်တော် (၄၀း၄၇-၄၈။ ၇း၃၈-၃၉။ ၃၃း၆၇-၆၈) ကို အကြောင်းပြုပြီး ဖော်ပြပါ အဆိုနှစ်ရပ်အနက် ပထမအဆိုကို အသားပေးထားသည်။

ထိုအခါ ကာဖိရ်ခေါင်းဆောင်ကြီးများက -

(က) အလ္လာဟ်အရှင်မြတ်သည် အကယ်၍ ပစ္စက္ခဘဝတွင် ငါတို့အား တရားလမ်းမှန်ရရန် စွမ်းအား ပေးတော်မူပါက ငါတို့သည်လည်း အသင်တို့အား မိမိတို့နှင့်အတူတကွ တရားလမ်းမှန်သို့ မုချ အရောက်ပို့ဆောင်ခဲ့ကြမည်သာဖြစ်သည်။ သို့ရာတွင် ငါတို့ကိုယ်တိုင် လမ်းမှားခဲ့ကြသည်၊ အသင်တို့အားလည်း လမ်းမှားစေခဲ့ကြသည်။

(ခ) ယခုအကယ်၍ အလ္လာဟ်အရှင်မြတ်သည် ဤပြစ်ဒဏ်မှ လွတ်မြောက်ရန်အတွက် လမ်းစပြတော်မူပါလျှင် ငါတို့သည်လည်း အသင်တို့အား လွတ်မြောက်ရန်လမ်းစ မုချပြကြမည် ဖြစ်သည်။ ယခုသော် ငါတို့လည်း အသင်တို့ကဲ့သို့ ဒုက္ခနှင့် ရင်ဆိုင်နေကြရသူများသာ ဖြစ်ကြသည်။ ဤဒုက္ခမှ လွတ်မြောက်ရန် လမ်းစလည်း အလျှင်းမရှိ။ သည်းခံကလည်း အကျိုးမရှိ၊ ငိုကြွေးကလည်း အကြောင်းမထူး' ဟု ပြန်လည်ဖြေကြားကြလိမ့်မည်။

وَقَالَ الشَّيْطٰنُ لَمَّا قُضِيَ الْاَمْرُ
اِنَّ اللّٰهَ وَعَدَكُمْ وَعْدَ الْحَقِّ
وَوَعَدْتُّكُمْ فَاَخْلَفْتُكُمْ ۗ وَمَا
كَانَ لِيَ عَلَيْكُمْ مِّنْ سُلْطٰنٍ
اِلَّآ اَنْ دَعَوْتُكُمْ فَاسْتَجَبْتُمْ
لِيْ ۚ فَلَا تَلُوْمُوْنِيْ وَلُوْمُوْٓا
اَنْفُسَكُمْ ۗ مَآ اَنَا بِمُصْرِخِكُمْ
وَمَآ اَنْتُمْ بِمُصْرِخِيَّ ۗ اِنِّيْ كَفَرْتُ
بِمَآ اَشْرَكْتُمُوْنِ مِنْ قَبْلُ ۗ
اِنَّ الظّٰلِمِيْنَ لَهُمْ
عَذَابٌ اَلِيْمٌ ﴿٢٢﴾

၂၂။ ၎င်းပြင် (အလုံးစုံ)စီရင်ဆုံးဖြတ်၍ ပြီးခဲ့သောအခါ ရှိုင်တွာန် မိစ္ဆာကောင်သည် (ဂျဟန္နမ်ငရဲဘုံသို့လားကြရသဖြင့် ညည်းညူပြစ်တင်သူတို့အား ဖြေကြားသောအားဖြင့် ဤသို့)ပြောဆိုအံ့။ (အို-ကျွန်ုပ်အား ပြစ်တင်ကဲ့ရဲ့သူအပေါင်းတို့) မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် မှန်ကန်သောကတိပေးခြင်းကို ကတိပေးတော်မူခဲ့၏၊ ၎င်းပြင် ကျွန်ုပ်သည်လည်း အသင်တို့အား ကတိပေးခဲ့သည်ဖြစ်၏။ သို့ရာတွင် မူကား ကျွန်ုပ်သည် အသင်တို့အား(ပေးခဲ့သည့် ကတိကို) ဖေါက်ဖျက်ခဲ့၏။

စင်စစ်မူကား ကျွန်ုပ်မှာ အသင်တို့အား ဖိတ်ခေါ်ခဲ့သည်မှအပ အသင်တို့အပေါ်၌ မည်သည့် သြဇာအာဏာတစ်စုံတစ်ရာမျှပင် ရှိခဲ့သည်မဟုတ်ပေ။ (ကျွန်ုပ်သည်) ထို(ကဲ့သို့ ဖိတ်ခေါ်ခဲ့သော)အခါ အသင်တို့သည် ကျွန်ုပ်(၏ ဖိတ်ခေါ်ချက်)ကို သဘောတူ လက်ခံခဲ့ကြ၏။ သို့ဖြစ်ပေရာ အသင်တို့သည် ကျွန်ုပ်အား ပြစ်တင် ပုတ်ခတ်မည့်အစား မိမိတို့ကိုယ်ကိုသာလျှင် မိမိတို့ ပြစ်တင်ပုတ်ခတ်ကြလေကုန်၊

(ယနေ့သော်ကား)ကျွန်ုပ်သည်လည်း အသင်တို့အား ကယ်မည့်သူမဟုတ်။ အသင်တို့သည်လည်း ကျွန်ုပ်အား ကယ်ဆယ်မည့်သူများ မဟုတ်ကြပေ။ အသင်တို့သည် ယခင်မူလက ကျွန်ုပ်အား (အလ္လာဟ်အရှင်မြတ်နှင့်) တွဲဖက်နှိုင်းယှဉ်ခဲ့ကြသည်ကို ကျွန်ုပ် ငြင်းပယ်၏။ ဧကန်အမှန် မတရားသောသူတို့၌ ပြင်းပြနာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်သည် ရှိချေအံ့သတည်း။ ①

① ကိယာမတ်နေ့တွင် ကိစ္စအဝဝတို့နှင့်စပ်လျဉ်း၍ စာရင်းအင်းများ ရှင်းလင်းပြီး ဂျန္နတ်သားများ ဂျန္နတ်➢➢

➤➤ အတွင်းသို့ ဝင်ကြရန်နှင့် ငရဲသားများ ငရဲအတွင်းသို့ဝင်ကြရန် အဆုံးအဖြတ် ချမှတ်တော်မူမည်ဖြစ်သည်။ ထိုအချိန်တွင် ကာဖိရ်များသည် ငရဲအတွင်းသို့ မဝင်သေးမီ သို့မဟုတ် ဝင်ပြီးသည့်နောက် အီဗ်လီစ်အား 'အို–အီဗ်လီစ် အသင်သည် ပစ္စက္ခတွင် မိမိကိုယ်တိုင်လည်း ပျက်စီးခဲ့သည်၊ ကျွန်ုပ်တို့ကိုလည်း ဖျက်ဆီးခဲ့သည်၊ မိမိကိုယ်ကိုလည်း လမ်းမှားစေခဲ့သည်၊ ကျွန်ုပ်တို့ကိုလည်း လမ်းမှားစေခဲ့သည်။ ယခု အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်တော်မှ ကျွန်ုပ်တို့ လွတ်မြောက်နိုင်ရန်အတွက် အသင် အသနားခံပေးပါ၊ သို့မဟုတ် တစ်မျိုးတစ်ဖုံ ကြံစည်အားထုတ်ပါဟု ပြောဆိုကဲ့ရဲ့ပြစ်တင်ကြမည်။

ထိုအခါ အီဗ်လီစ်က ဖြေကြားမည်မှာ – 'အလ္လာဟ်အရှင်မြတ်သည် တမန်တော်များမှတစ်ဆင့် ကိယာမတ်၊ ဂျန္နတ်၊ ဂျဟန္နမ် အမှန်ရှိကြောင်း၊ အီမာန်၏အကျိုး၊ ကုဖ်ရ်၏အပြစ်စသည်တို့ နှင့်စပ်လျဉ်း၍ မှန်ကန်သော ကတိများကို ပေးတော်မူခဲ့သည်။ ထိုအရှင်မြတ်၏ ကတိတော်များ မှန်ကန်ကြောင်း ပစ္စက္ခတွင်လည်း သက်သေသာဓက အထောက်အထား အခိုင်အလုံရှိခဲ့သည်။ ယခုမူ မျက်မြင်ဒိဋ္ဌ အထင်အရှားဖြစ်ပြီး၊ ကျွန်ုပ်သည် အသင်တို့အား မှားယွင်းသော ကတိများပေးခဲ့သည်၊ ကျွန်ုပ်၏ ကတိများ မှားယွင်းကြောင်းကို ပစ္စက္ခတွင်ပင် သာမန်တွေးဆ ဆင်ခြင်ပါက သိရှိနိုင်ပေသည်။ ယခုမူ ကျွန်ုပ်၏ ကတိများ မှားယွင်းသည်မှာ မျက်မြင်ဒိဋ္ဌ ဖြစ်ချေပြီ။ ကျွန်ုပ်၏ ကတိပြုချက်များနှင့်စပ်လျဉ်း၍ ကျွန်ုပ်၌ တစ်စုံတစ်ရာ အထောက်အထား အလျှင်းမရှိ၊ ထို့ပြင် အသင်တို့အား မှားသောအရာတစ်ခုကို အတင်းအဓမ္မ ယုံကြည်လိုက်နာကျင့်သုံးစေရန် ကျွန်ုပ်၌ တစ်စုံတစ်ရာ စွမ်းအားလည်းမရှိ။ ကျွန်ုပ်သည် အသင်တို့အား မကောင်းမှုကို ပြုလုပ်ကြရန် တိုက်တွန်း စေ့ဆော်ခဲ့သည်မှာ မှန်သည်။

သို့ရာတွင် အသင်တို့သည် ထိုမကောင်းမှုကို ကျေကျေနပ်နပ် လိုက်နာပြုကျင့်ခဲ့ကြသည်၊ ကျွန်ုပ် စေ့ဆော်ရာသို့ အသင်တို့ ကြည်ဖြူစွာ သွားခဲ့ကြသည်၊ ကျွန်ုပ်မိန့်ကြားရာကို အသင်တို့သည် ဝမ်းသာစွာ လိုက်နာခဲ့ကြသည်၊ ကျွန်ုပ်တို့သည် အသင်တို့အား မှားယွင်းသော လမ်းစဉ်များကို ချပြခဲ့သည်၊ အသင်တို့သည် လည်း ထိုမှားသောလမ်းစဉ်ကို မစဉ်းမစား မဆင်မခြင်ဘဲ မျက်စိမှိတ်ကာ လိုက်နာခဲ့ကြသည်၊ ဤသည် အသင်တို့၏ မဟာအမှားတော်ပင်ဖြစ်သည်၊ အမှန်မှာ အသင်တို့သည် ကျွန်ုပ်ထက် မိမိကိုယ်ကို ကဲ့ရဲ့ပြစ်တင် သင့်ကြပေသည်။ ကျွန်ုပ်၏အပြစ်မှာ အသင်တို့အား မှားယွင်းသော လမ်းစဉ်ဘက်သို့ ဖိတ်ခေါ်ခြင်းသာ ဖြစ်သည်။ အသင်တို့သည် ကျွန်ုပ်အား အပြစ်ရှိသူဟု စွပ်စွဲရုံမျှဖြင့် မိမိတို့ကိုယ်တိုင် အပြစ်ကင်းမဲ့သူများ ဖြစ်မသွားနိုင်ကြပေ။ ယနေ့ ကျွန်ုပ်သည်လည်း အသင်တို့အား ကယ်နိုင်သည်မဟုတ်ပေ၊ အသင်တို့သည်လည်း ကျွန်ုပ်အား ကယ်နိုင်သည်မဟုတ်။ အသင်တို့သည်လည်း အသင်တို့အပြစ်နှင့်၊ ကျွန်ုပ်လည်း ကျွန်ုပ်၏အပြစ်နှင့် အသီးသီး :တုပ်မိ နှောင်မိ ဖြစ်နေကြပြီ၊ တစ်ဦးကိုတစ်ဦး အလျှင်းမကယ်နိုင်။

ပစ္စက္ခတွင် အသင်တို့သည် မိုက်မဲစွာဖြင့် ကျွန်ုပ်အား အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်ယှဉ်ဖက်ထား၍ ကိုးကွယ်ခဲ့ကြသည်။ (ဆိုလိုသည်ကား– အချို့တို့သည် ရှိုင်တွာန်အား တိုက်ရိုက်ကိုးကွယ်ခဲ့ကြသည်။ အချို့ကမူ ရှိုင်တွာန်၏စကားများကို အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များပမာ မှတ်ယူခဲ့ကြသည်။ရှိုင်တွာန်၏ အမိန့်ပညတ်များကို အလ္လာဟ်အရှင်မြတ်၏ အမိန့်ပညတ်များပမာ နာယူခဲ့ကြသည်)။ အသို့ပင်ဖြစ်စေ အသင်တို့ သည် မိုက်မဲစွာဖြင့် ကျွန်ုပ်အား အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်ယှဉ်ဖက်ထား၍ ကိုးကွယ်ခဲ့ကြသည်ကို ကျွန်ုပ် ငြင်းသည်။ အသင်တို့၏ ယှဉ်တွဲကိုးကွယ်မှုသည် ကျွန်ုပ်နှင့်မည်သို့မျှမပတ်သက်။

တစ်နည်း ( بِمَآ أَشۡرَكۡتُمُونِ ) တွင် ပါရှိသည့် (بِ) (ဗိ)သည် အကြောင်းပြအက္ခရာဖြစ်သည် ဟုလည်းဆိုနိုင်သည်)။ ဆိုလိုသည်ကား အသင်တို့သည် ကျွန်ုပ်အား အလ္လာဟ်အရှင်မြတ်၏ အဆင့် ➤➤

وَأُدْخِلَ الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ جَنَّاتٍ تَجْرِي مِن تَحْتِهَا الْأَنْهَارُ خَالِدِينَ فِيهَا بِإِذْنِ رَبِّهِمْ ۖ تَحِيَّتُهُمْ فِيهَا سَلَامٌ ﴿٢٣﴾

၂၃။ ၎င်းပြင် (အီမာန်) သက်ဝင် ယုံကြည်ခဲ့သည့်ပြင် ကောင်းမြတ်သောအကျင့် သီလများကို ကျင့်မှုဆောက်တည်ခဲ့ကြကုန်သောသူတို့ကား ဥယျာဉ်များသို့ ဝင်ရောက်စေခြင်းကို ခံကြရလတ္တံ့။ ထိုဥယျာဉ်များ၏ အောက်တွင် စမ်းရေချောင်းများသည် စီးတွေလျက်ရှိကြကုန်အံ့။ ၎င်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏အမိန့်တော်နှင့် ထိုဥယျာဉ်များတွင် ထာဝစဉ်နေထိုင်စံမြန်းသူများ ဖြစ်ကြပေအံ့။ ထိုဥယျာဉ်များတွင် ၎င်းတို့၏ မေတ္တာပို့သ နှုတ်ခွန်းဆက်သမှုကား 'စလာမ်' (ငြိမ်းချမ်းသာယာ)ဟူ၍ပင် ဖြစ်ချိမ့်အံ့သတည်း။ ①

أَلَمْ تَرَ كَيْفَ ضَرَبَ اللَّهُ مَثَلًا كَلِمَةً طَيِّبَةً

၂၄။ (အို-နဗီတမန်တော်)အလ္လာဟ်အရှင်မြတ်သည် စင်ကြယ်သန့်ရှင်းသောစကားကို မည်သို့ဥပမာ ခိုင်းနှိုင်းတော်မူခဲ့သည်ကို အသင်သည် မသိမမြင်လေသလော။

---

➤➤ အတန်းသို့ ပို့ခဲ့ ကြသည်။ထို့အတွက်ကြောင့် ကျွန်ုပ်လည်းကာဖိရ်ဖြစ်ရပြီ။ အကယ်၍ ကျွန်ုပ်၏စကားကို မည်သူမျှ နားမထောင်ကြလျှင် ကျွန်ုပ်သည် သွေဖည်မှု၊ ပုန်ကန်မှုတို့တွင် ဤသည့် အဆင့်အတန်းသို့ မရောက်နိုင်ခဲ့ပါ။

ယခုမူ ကျိုးကျော် စော်ကားသူတိုင်း၊ အလ္လာဟ်အရှင်မြတ်နှင့်တွဲဖက်၍ တစ်စုံတစ်ရာ ကိုးကွယ်သူတိုင်းသည် အသီးသီး မိမိတို့အပြစ်၏ ပြင်းထန်လှသော ပြစ်ဒဏ်ကို ခံစားသင့်ကြပေသည်။ ငိုကြွေးခြင်း၊ တစ်ဦးကိုတစ်ဦး အပြစ်တင်ခြင်းနှင့် တစ်စုံတစ်ရာ အကျိုးမရှိ၊ လွတ်မြောက်ရန် ထွက်ပေါက်လည်း အလျင်းမရှိ။

အထက်တွင် နောက်လိုက်များနှင့် ခေါင်းဆောင်များ အချင်းချင်း ပြစ်တင်ဝေဖန်မည့်အကြောင်း၊ ငရဲသားတို့၏ မဟာခေါင်းဆောင်ကြီး ရှိုင်တွာန်နှင့် ၎င်း၏နောက်လိုက်များ အချင်းချင်း ပြစ်တင်ဝေဖန်မည့် အကြောင်းများပါရှိခဲ့၏။ ဤသည့်အကြောင်းများကို စဉ်းစားဆင်ခြင်၍ လူသားတို့သည် မည်သည့် ခေါင်းဆောင်တို့၏ စကားကိုမျှ မလိုက်မှားမိကြရန် အထူးသတိပြုရပေသတည်း။

① အထက်တွင် ကာဖိရ်၊ မုရှ်ရစ်က်များ ခံစားကြရမည့် ပြစ်ဒဏ်များအကြောင်း ပါရှိခဲ့၏။ ယခု ဤအာယတ်တော်တွင် မုအ်မင်န် သူတော်စင်များ ခံစားကြရမည့် အမတသုခများ ကို မိန့်ဆိုထားတော်မူသည်။

ဂျန္နတ်သူ ဂျန္နတ်သားများသည် အချင်းချင်း တွေ့ဆုံကြသည့်အခါ 'စလာမ်' ဟုဆိုကာ နှုတ်ခွန်းဆက်သကြမည်။ ကောင်းကင်တမန်များကလည်း ၎င်းတို့အား စလာမ်ပေးကြမည်။

ကြည့်-ကုရ်အာန် (၁၀း၁၀။ ၁၃း၂၃-၂၄။ ၂၅း၇၅-၇၆။ ၅၆း၂၅-၂၆)။

كَشَجَرَةٍ طَيِّبَةٍ أَصْلُهَا ثَابِتٌ وَفَرْعُهَا فِي السَّمَاءِ ﴿٢٤﴾

(အလ္လာဟ်အရှင်မြတ်သည် ယင်းစကားကို ဥပမာ ခိုင်းနှိုင်းတော်မူသည်မှာ စင်ကြယ်သန့်ရှင်းသော ထိုစကားသည်) အကြင် သန့်စင်သောသစ်ပင်တစ်ပင်နှင့်တူပေသည်။ ယင်းသစ်ပင်၏ အမြစ်ကား မြဲမြံခိုင်ခံ့၍ ၎င်း၏ အကိုင်းအလက်တို့မှာမူကား ကောင်းကင်၌ ရှိနေကုန်၏။

تُؤْتِي أُكُلَهَا كُلَّ حِينٍ بِإِذْنِ رَبِّهَا ۗ وَيَضْرِبُ اللَّهُ الْأَمْثَالَ لِلنَّاسِ لَعَلَّهُمْ يَتَذَكَّرُونَ ﴿٢٥﴾

၂၅။ ထိုသစ်ပင်သည် မိမိအား ပြုစုပျိုးထောင်တော်မူသောအရှင်မြတ်၏ အမိန့်တော်နှင့် မိမိ၏ အသီးများကို ဥတုရာသီမရွေး၊ အခါခပ်သိမ်း ပေးလျက်ရှိနေပေသည်။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် လူတို့အဖို့ ၎င်းတို့ ဆင်ခြင်သုံးသပ် သိမြင်နိုင်အံ့သောငှာ ဥပမာ ပုံဆောင်ချက်များကို ခိုင်းနှိုင်းတော်မူပေသတည်း။

وَمَثَلُ كَلِمَةٍ خَبِيثَةٍ كَشَجَرَةٍ خَبِيثَةٍ اجْتُثَّتْ مِنْ فَوْقِ الْأَرْضِ مَا لَهَا مِنْ قَرَارٍ ﴿٢٦﴾

၂၆။ သို့ရာတွင် ညစ်ညမ်းသောစကား၏ ဥပမာပုံဆောင်ချက်ကား အကြင်ညစ်ညမ်းသော သစ်ပင်တစ်ပင်ကဲ့သို့ပင်။ ထိုသစ်ပင်သည် မြေ၏အပေါ်ယံမှ နှုတ်ပစ်ခြင်းကို ခံခဲ့ရလေရာ၊ ၎င်း၌ မြဲမြံခိုင်ခံ့မှု အလျင်းမရှိချေ။[၁]

---

(၁) "စင်ကြယ် သန့်ရှင်းသော စကား"ဟူသည် တောင်ဟီးဒ်ကို ဆိုလိုသည်။ ယင်းစကားတွင် မအ်ရိဖတ် (အလ္လာဟ်အရှင်မြတ်အား သိခြင်း)၊ အီမာန်၊ ကုရ်အာန်ဂုဏ်တော်မွမ်းခြင်း၊ မှန်သော စကားကိုဆိုခြင်း . . . များသည်လည်း အကျုံးဝင်ပေသည်။

စင်ကြယ်သန့်ရှင်းသော စကားသည် အကြင် သစ်ပင်ကြီးနှင့်တူ၏။ ထိုသစ်ပင်သည် အဘက်ဘက်မှ စင်ကြယ်သန့်ရှင်း၏။ ထိုအပင်၏ အမြစ်များသည် မြေတွင်စွဲမြဲလျက်ရှိ၏။ လဲကျရန် အကြောင်းမရှိ၊ ထိုသစ်ပင်ကြီး၏ အကိုင်းအလက်များသည် မိုးသို့ ထိုးတက် ဝေဆာလျက်ရှိ၏။ အချိန်အခါမရွေး (၁၂-ရာသီလုံး) သီးပွင့်လျက်ရှိ၏။ အကျိုးကား ကြီးမားလှ၏။

ညစ်ညမ်းသော စကားသည် ကုဖ်ရ်၊ ရှရ်စ်က်ကို ဆိုလိုသည်။ ယင်းစကားတွင် မုသားစကားများ၊ အလ္လာဟ်အရှင်မြတ် နှစ်သက်တော်မမူသော စကားများ . . . အားလုံး အကျုံးဝင်ပေသည်။

ညစ်ညမ်းသော စကားသည် အကြင်သစ်ပင်နှင့် တူ၏။ ထိုသစ်ပင်သည် အဘက်ဘက်မှ ညစ်ညမ်း၏။ ထိုသစ်ပင်၏ အမြစ်များသည် မြေတွင်စွဲမြဲနေသည် မဟုတ်။ ထိုသစ်ပင်သည် မြေမျက်နှာပြင် အပေါ်ယံ၌သာ➤➤

يُثَبِّتُ اللّٰهُ الَّذِيْنَ اٰمَنُوْا بِالْقَوْلِ الثَّابِتِ فِى الْحَيٰوةِ الدُّنْيَا وَفِى الْاٰخِرَةِ ۚ وَيُضِلُّ

၂၇။ အလ္လာဟ်အရှင်မြတ်သည် မုအ်မင်န် သက်ဝင်ယုံကြည်သူတို့အား ယင်း တည်တံ့ခိုင်မြဲသောစကားဖြင့် ပစ္စက္ခမျက်မှောက် လောကီဘဝ၌လည်းကောင်း၊ 'အာခိရတ်'တမလွန်ဘဝ၌လည်းကောင်း *တည်တံ့မြဲမြဲစေတော်မူ၏။* ၁

---

➤➤ ပေါက်နေသည့်အတွက် မြေမှကျွတ်လျက်ရှိ၏။ ထို့အတွက် ထိုသစ်ပင်သည် မိမိ၏ အမြစ်များအပေါ်၌ ရပ်တည်နိုင်သည်လည်းမရှိ၊ ကြီးထွားနိုင်သည်လည်းမရှိ။ သီးပွင့်နိုင်သည် လည်းမရှိ။ အန္တရာယ်ကား ကြီးမားလှ၏။

အထက်ပါ ပုံဆောင်ချက်နှစ်ရပ်၏ အချုပ်သဘောမှာ- မွတ်စ်လင်မ်တို့ ယုံကြည်လက်ခံသော တောင်ဟီးဒ် သည် မှန်ကန်၏။ မှန်ကန်ကြောင်း အထောက်အထားများ ခိုင်လုံ၏။ သဘာဝနှင့်လည်း ကိုက်ညီ၏။ ထို့အတွက်ကြောင့် တောင်ဟီးဒ်၏ အနှစ်သာရတည်းဟူသော အခြေအမြစ်များသည် စိတ်နှလုံးများ၏ အတွင်းသား ထဲသို့ပင် သက်ရောက်လျက်ရှိ၏။ ကောင်းမှုကုသိုလ်များတည်းဟူသော အကိုင်းအလက်များသည် လက်ခံတော် မူခြင်းတည်းဟူသော မိုးကောင်းကင်သို့ အမြဲတစေ ထိုးတက်လျက်ရှိ၏။ ဤအကြောင်း-ကုရ်အာန် (၃၅:၁၀) တွင်လည်း ပါရှိ၏။ တောင်ဟီးဒ်ကို ယုံကြည်သော 'မုဝဟ်ဟစ်ဒ်' များသည်လည်း အမြိန့်အရသာတို့နှင့် ပြည့်စုံလှသည့် တောင်ဟီးဒ်၏ သီးပွင့်တို့ကို စားသုံးလျက်ရှိကြ၏။ အချုပ်အားဖြင့်ဆိုရသော် တောင်ဟီးဒ်တည်းဟူသော ပဒေသာပင်ကြီးသည် အခါမရွေး စိမ်းစိုဝေဆာ သီးပွင့်ကာ ကြီးထွားသည်ထက် ကြီးထွားလျက်၊ မြင့်မားသည်ထက် မြင့်မားလျက်ရှိ၏။

တောင်ဟီးဒ်နှင့် ဆန့်ကျင်ဘက်ဖြစ်သော ကုဖ်ရ်၊ ရှရ်စ်က်တည်းဟူသော သစ်ပင်သည် အခြေမခိုင်ပေ။ လေ သာမန်တိုက်ခတ်ရုံမျှဖြင့် ပြိုလဲသွားနိုင်၏။ (အခြေမခိုင်သော သစ်ပင်သည် အသို့လျှင် ကြီးထွားနိုင်အံ့နည်း။ အသို့လျှင် သီးပွင့်နိုင်အံ့နည်း။ အသို့လျှင် အကျိုးပြုနိုင်အံ့နည်း။ အကျိုးပြုရန် ဝေးစွ၊ အကျိုးယုတ်စေမည်သာ ဖြစ်၏။ ဒုက္ခပေးမည်သာ ဖြစ်၏။) မမှန်ကန်သောစကားကို အမှန်ဖြစ်အောင်၊ အမှားကို အမှန်ဖြစ်အောင် အဘယ်မျှပင် ကြိုးပမ်းလင့်ကစား သဘာဝမကျသည့်အတွက် စိတ်နှလုံးသားအတွင်းသို့ အလျင်း မသက်ရောက်နိုင်ပေ။ အနည်းငယ် တွေးဆဆင်ခြင် ကြည့်ရုံမျှဖြင့် အမှားသည် အမှားဖြစ်ကြောင်း ပေါ်လာနိုင်ပေသည်။ အချုပ်အားဖြင့်ဆိုရသော် ကုဖ်ရ်၊ ရှရစ်က်တည်းဟူသော အခြေအမြစ်မရှိသော သစ်ပင်သည် ကာဖိရ်၊ မုရှ်ရစ်က်တို့အား အချိန်မရွေး အန္တရာယ်ပြုမည်သာဖြစ်၏။

တောင်ဟီးဒ်ကား အမှန်တည်း။ ကုဖ်ရ်ကား အမှားတည်း။ တောင်ဟီးဒ်သည် သုခကို ဆောင်ကြဉ်း၏။ ကုဖ်ရ်သည် ဒုက္ခကို ဆောင်ကြဉ်း၏။

(၁) အလ္လာဟ်အရှင်မြတ်သည် တောင်ဟီးဒ်ဖြင့် မုအ်မင်န်တို့အား ဤပစ္စက္ခဘဝတွင်လည်းကောင်း၊ နောင်တမလွန်ဘဝတွင်လည်းကောင်း၊ ရပ်တည်စေတော်မူသည်။ သင်္ချိုင်းသည် ဤပစ္စက္ခဘဝနှင့် နောင်တမလွန်ဘဝ၏ 'ဗရ်ဇခ်' စပ်ကြားစခန်းဖြစ်သည်။ သင်္ချိုင်းကို ဤပစ္စက္ခဘဝတွင်လည်း ထည့်သွင်းရေတွက်နိုင်သည်။ နောင်တမလွန်ဘဝဘက်တွင်လည်း ထည့်သွင်းရေတွက်နိုင်သည်။ အတိတ်ခေတ်ရှိ အာလင်မ်များထံမှ အဆိုနှစ်မျိုးလုံးကို တွေ့ရှိရသည်။ ဆိုလိုသည်ကား မုအ်မင်န်များသည် ဤပစ္စက္ခမှစ၍ 'မဟ်ရှရ်' မဟာကွင်းပြင်တော်အထိ ဤတောင်ဟီးဒ်ဖြင့်ပင် ရပ်တည်နေနိုင်ကြမည်ဖြစ်သည်။ 

اللّٰهُ الظّٰلِمِيْنَ ۙ وَيَفْعَلُ اللّٰهُ مَا يَشَآءُ ﴿٢٧﴾

သို့ရာတွင် မတရားသော(ကာဖိရ်) သူတို့ကို မူကား အလ္လာဟ်အရှင်မြတ် ချွတ်ချော်တိမ်းပါးစေတော်မူ၏။ စင်စစ်မှာကား ထိုအရှင်မြတ်သည် မိမိ အလိုရှိတော်မူသောကိစ္စကို ပြုလုပ်ဆောင်ရွက်တော်မူချေသတည်း။

اَلَمْ تَرَ اِلَى الَّذِيْنَ بَدَّلُوْا نِعْمَتَ اللّٰهِ كُفْرًا وَّاَحَلُّوْا قَوْمَهُمْ دَارَ الْبَوَارِ ﴿٢٨﴾

၂၈။ (အိုး-နဗီတမန်တော်၊)အသင်သည် အကြင်သူတို့အားမမြင်ခဲ့လေသလော။ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို သွေဖည်ငြင်းပယ်မှုနှင့် လဲလှယ်ခဲ့ကြကုန်သည်။ ၎င်းပြင် ထိုသူတို့သည် မိမိတို့၏ အမျိုးသားတို့ကို ပျက်စီးရာဌာနသို့ ဆွဲချသက်ဆင်းစေခဲ့ကြကုန်သတည်း။ ၁

جَهَنَّمَ ۚ يَصْلَوْنَهَا ۗ وَبِئْسَ الْقَرَارُ ﴿٢٩﴾

၂၉။ ဂျဟန္နမ်ငရဲဘုံသို့၊ ၎င်းတို့သည် ယင်းဂျဟန္နမ်ငရဲဘုံသို့ လားကြပေမည်။ စင်စစ်မှာမူကား ယင်းဂျဟန္နမ် ငရဲဘုံသည် အလွန်ဆိုးရွားလှသော ရပ်တည်ရာ ဌာနပင် ဖြစ်လေသတည်း။

---

➤➤ ဤပစ္စက္ခတွင် အဘယ်မျှပြင်းထန်သော စမ်းသပ်မှုမျိုးနှင့် ရင်ဆိုင်ရသည်ဖြစ်စေ၊ သင်္ချိုင်းတွင် 'မွန်ကရ်'၊ 'နကီရ်' တို့၏ မေးမြန်းခြင်းကို ဖြေရမည်ဖြစ်စေ၊ မဟ်ရှရ် ကွင်းပြင်၏ ကြောက်မက်ဖွယ်ကောင်းသော ရှုကွင်းများကို တွေ့မြင်ရသည်ဖြစ်စေ မုအ်မင်န်များသည် ဤတောင်ဟီးဒ်ဖြင့် ရပ်တည်နိုင်ကြပေမည်။ တုန်လှုပ်ချောက်ချားကြမည် မဟုတ်ပေ။

အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ဤပစ္စက္ခဘဝတွင်လည်းကောင်း၊ သင်္ချိုင်းတွင်လည်းကောင်း၊ နောင်တမလွန်ဘဝတွင်လည်းကောင်း၊ တောင်ဟီးဒ်ဖြင့် ရပ်တည်စေတော်မူသည် ဖြစ်တော်မူပါစေသတည်း။

(၁) ဤအာယတ်တော်တွင် ကာဖိရ်၊ မုရှ်ရစ်က်တို့၏ အကြီးအကဲများ၊ အထူးသဖြင့် ကုရိုက်ရှ်မျိုးနွယ်၏ အကြီးအကဲများကို ရည်ညွှန်း မိန့်ဆိုထားတော်မူသည်။ ကုရိုက်ရှ်မျိုးနွယ် အကြီးအကဲများသည် ထိုအချိန်တွင် အရဗ်အမျိုးသားတို့အား ရှေ့ဆောင် ဦးစီးလျက်ရှိခဲ့ကြ၏။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား အမျိုးမျိုးသော ကျေးဇူးတော်များ ပြုတော်မူခဲ့၏။ ဥပမာ- ထိုအရှင်မြတ်သည် ၎င်းတို့ထံသို့ တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား စေလွှတ်တော်မူခဲ့၏။ ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ချမှတ်တော်မူခဲ့၏။ ၎င်းတို့အား မိမိကျောင်းတော်၏ ဂေါပကများ၊ ကျောင်းတော်စောင့်များအဖြစ် ချီးမြှင့်တော်မူခဲ့၏။ ၎င်းတို့အား ခေါင်းဆောင်မှုကိုလည်း ပေးသနားတော်မူခဲ့၏။ ကုရိုက်ရှ်မျိုးနွယ် အကြီးအကဲတို့သည် ဤသည့် ➤➤

وَجَعَلُوا لِلَّهِ أَندَادًا لِّيُضِلُّوا عَن سَبِيلِهِ ۗ قُلْ تَمَتَّعُوا فَإِنَّ مَصِيرَكُمْ إِلَى النَّارِ ﴿٣٠﴾

၃၀။ ထိုမှတစ်ပါး ၎င်းတို့သည် (မိမိတို့ကိုယ်ကိုလည်းကောင်း၊ သူတစ်ပါးတို့ကိုလည်းကောင်း၊) အလ္လာဟ်အရှင်မြတ်၏လမ်းတော်မှ လွဲစေအံ့သောငှာ ထိုအရှင်မြတ်၏ *ဂုဏ်ရည်တူများကို ပြုလုပ်ခဲ့ကြကုန်၏။* [၁] မှတ်ယူခဲ့ကြကုန်၏။

(အို-နဗီတမန်တော်)အသင်သည်(၎င်းတို့အား အချင်းတို့)အသင်တို့သည် (ဤလောကီဘဝ၌ အနည်းငယ်) အကျိုးခံစားကြလေကုန်။ (နောက်ဆုံး)စခန်းသည်ငရဲမီး၌ပင်ဖြစ်ပေသည်ဟုပြောကြားပါလေ။ [၂]

---

➤➤ ကျေးဇူးတော်များကို ထောက်ထား၍ အလ္လာဟ်အရှင်မြတ်အား ကျေးဇူးဆပ်ရမည့်အစား ထိုအရှင်မြတ်အား ကျေးဇူးပင် ကန်းခဲ့ကြလေသည်။ ထိုအရှင်မြတ်၏ အာယတ်တော်ကိုလည်း သွေဖည်ခဲ့ကြလေသည်။ ထိုအရှင်မြတ်၏ တမန်တော်မြတ်နှင့် စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ခဲ့ကြလေသည်။ နောက်ဆုံးတွင် ၎င်းတို့သည် မိမိတို့ကိုယ်ကို ဖျက်ဆီးခဲ့ကြလေသည်သာမက မိမိတို့၏ အမျိုးသားတို့ကိုလည်း ဖျက်ဆီးခဲ့ကြလေသည်။ မိမိတို့နှင့်တကွ နောက်လိုက်များကိုပါ ဂျဟန္နမ် ငရဲအတွင်းသို့ ဆွဲသွင်းခဲ့ကြလေသည်။ ကျေးဇူးကန်းခြင်းကား ဆိုးရွားလှပါဘိတကား။

(၁) ကုရိုက်ရှ်မျိုးနွယ်ဝင် အကြီးအကဲတို့သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကို စောင့်သိရှိသေသောအားဖြင့် ထိုအရှင်မြတ်၏ အမိန့်ပညတ်တော်များကို ကျင့်ရန်၊ဆောင်ရန်သာ ရှိပေသည်။ သို့ရာတွင် ၎င်းတို့သည် ထိုအရှင်မြတ်အား သွေဖည်ခဲ့ကြသည်သာမက ထိုအရှင်မြတ်၏ လမ်းတော်မှ မိမိတို့နှင့်တကွ သူတစ်ပါးတို့အား ဖယ်ရှားထားရန်အတွက် ထိုအရှင်မြတ်နှင့် ယှဉ်တွဲ၍ ဂုဏ်ရည်တူများ သတ်မှတ်ကိုးကွယ်ခဲ့ကြလေသည်။ ယင်းသို့ ယှဉ်တွဲကိုးကွယ်ခြင်းမှာ – သူတစ်ပါးတို့အား လှည့်စား၍ မိမိတို့၏ ခေါင်းဆောင်မှု၊ အာဏာ တည်မြဲစေရန်အတွက်သာ ဖြစ်ပေသည်။

(၂) ဆရာဝန်တစ်ဦးက မိမိ၏စကား နားမထောင်သော၊ အစားအသောက် မဆင်ခြင်သောရောဂါသည်တစ်ဦးအား 'အသင် စားချင်သောအရာကို စားလော့၊ တစ်ရက်တော့ အသင်သည် ဤရောဂါနှင့်ပင် သေရတော့မည်' ဟု စိတ်ဆိုး၍ ပြောဆိုခဲ့၏။ အလ္လာဟ်အရှင်မြတ်ကလည်း မကြာမီအတွင်း ငရဲသို့လားကြရမည့် သူမိုက်တို့အား 'အသင်တို့သည် လောကီစည်းစိမ်များကို တခဏတော့ ခံစားလိုက်ကြဦး၊ ထို့နောက်တွင်မူ အသင်တို့သည် ငရဲသို့ မုချလားကြရမည်သာ ဖြစ်သည်' ဟု မိန့်ဆိုထားတော်မူသည်။

ဤသည့်သဘောကို ကုရ်အာန် (၂း ၁၂၆။ ၁၀း ၇၀။ ၁၁း ၄၈။ ၁၅း ၃။ ၁၆း ၅၅။ ၂၉း ၆၆။ ၃၀း ၃၄။ ၃၁း ၂၄။ ၃၉း၈ ။ ၇၇း ၄၈) တွင် ပြန်လည်ရှုပါကုန်။

قُلْ لِعِبَادِيَ الَّذِينَ آمَنُوا يُقِيمُوا الصَّلَاةَ وَيُنْفِقُوا مِمَّا رَزَقْنَاهُمْ سِرًّا وَعَلَانِيَةً مِنْ قَبْلِ أَنْ يَأْتِيَ يَوْمٌ لَا بَيْعٌ فِيهِ وَلَا خِلَالٌ ﴿٣١﴾

၃၁။ (အို- နဗီတမန်တော်)အသင်သည် သက်ဝင်ယုံကြည်ကြကုန်သော ငါအရှင်မြတ်၏ကျွန်များအား ထိုသူတို့သည် ဆွလာတ်ဝတ်ပြုမှုကို ဆောက်တည်ကြရမည်။ ထို့ပြင်ငါအရှင်မြတ်က ထိုသူတို့အား ချီးမြှင့်ပေးသနားတော် မူခဲ့သည့် ဥစ္စာပစ္စည်းများအနက်မှ အကြင်နေ့ မဆိုက်ရောက်မီ လျှို့ဝှက်စွာလည်းကောင်း၊ ထင်ရှားစွာလည်းကောင်း၊ ပေးကမ်းစွန့်ကြဲကြရမည်ဟု ပြောကြားပါလေ။ [၁] ထိုနေ့တွင် ကုန်သွယ်မှုသည်လည်း ရှိလိမ့်မည်မဟုတ်ပေ၊ မိတ်ဖွဲ့ရင်းနှီး ကျွမ်းဝင်မှုဟူ၍လည်း ရှိလိမ့်မည်မဟုတ်ပေ။ [၂]

اللَّهُ الَّذِي خَلَقَ السَّمَاوَاتِ وَالْأَرْضَ وَأَنْزَلَ مِنَ السَّمَاءِ مَاءً فَأَخْرَجَ بِهِ مِنَ الثَّمَرَاتِ رِزْقًا لَكُمْ وَسَخَّرَ لَكُمُ الْفُلْكَ لِتَجْرِيَ فِي الْبَحْرِ بِأَمْرِهِ وَسَخَّرَ لَكُمُ الْأَنْهَارَ ﴿٣٢﴾

၃၂။ အလ္လာဟ်အရှင်မြတ်သည် အကြင်အရှင်မြတ်ပင်၊ ထိုအရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ဖန်ဆင်းတော်မူခဲ့လေသည်။ ၎င်းပြင် ထိုအရှင်မြတ်သည် မိုးကောင်းကင်မှ ရေကို ချပေးတော်မူခဲ့လေသည်။ တစ်ဖန် ထိုအရှင်မြတ်သည် ထိုရေဖြင့် အသင်တို့အဖို့ သစ်သီးဝလံများကို ရိက္ခာအဖြစ် ထွက်စေတော်မူခဲ့လေသည်။

ထိုမှတစ်ပါး ထိုအရှင်မြတ်သည် ရွက်သင်္ဘောများကို၊ ထိုရွက်သင်္ဘောများသည် ထိုအရှင်မြတ်၏ အမိန့်တော်နှင့် ပင်လယ်သမုဒ္ဒရာ၌သွားလာအံ့သောငှာ၊ အသင်တို့၏အမိန့်ကို လိုက်နာစေတော်မူခဲ့လေသည်။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည် အသင်တို့အကျိုးငှာ၊ မြစ်ချောင်းများကိုလည်း နိုင်နင်းစေတော်မူခဲ့၏။

(၁) အထက်တွင် ကာဖိရ်များ ကျေးဇူးကန်းသည့်အကြောင်း ပါရှိ၏။ ယခု ဤအာယတ်တော်တွင် မုအ်မင်န်တို့အား ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို စောင့်သိရိုသေသောအားဖြင့် အချိန်ရှိခိုက် လုံ့လစိုက်ကာ ဆွလာတ်ဝတ်ပြုကြရန်နှင့် ထိုအရှင်မြတ်က မိမိတို့အား ချီးမြှင့်ထားတော်မူသော စွမ်းရည်သတ္တိ၊ ပစ္စည်းဥစ္စာ➤➤

وَسَخَّرَ لَكُمُ الشَّمْسَ وَالْقَمَرَ دَآئِبَيْنِ ۖ وَسَخَّرَ لَكُمُ الَّيْلَ وَالنَّهَارَ ﴿٣٣﴾

၃၃။ ၎င်းပြင် ထိုအရှင်မြတ်သည် 'သူရိယ' နေကိုလည်းကောင်း၊ လ 'စန္ဒာ' ကိုလည်းကောင်း၊ အမြဲမပြတ်သွားလာစေလျက် အသင်တို့အကျိုးငှာ လိုက်နာစေတော်မူခဲ့လေသည်။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည် ညဉ့်ကိုလည်းကောင်း၊ နေ့ကိုလည်းကောင်း၊ အသင်တို့အကျိုးငှာ အမိန့်ကို လိုက်နာစေတော်မူခဲ့ပေသတည်း။

وَآتَاكُم مِّن كُلِّ مَا سَأَلْتُمُوهُ ۚ وَإِن تَعُدُّوا نِعْمَتَ اللَّهِ لَا تُحْصُوهَا ۗ إِنَّ الْإِنسَانَ لَظَلُومٌ كَفَّارٌ ﴿٣٤﴾

၃၄။ ထို့မှတစ်ပါးထိုအရှင်မြတ်သည် အသင်တို့အား ထိုအရှင်မြတ်အထံတော်၌ အသင်တို့ အသနားခံခဲ့ကြသည့်အရာ အလုံးစုံတို့အနက်မှလည်း ချီးမြှင့် ပေးသနားတော်မူခဲ့ပေသည်။ စင်စစ်သော်ကား အကယ်၍ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်(များ)ကို ရေတွက်ကြသည်ရှိသော် အသင်တို့သည် ယင်းကျေးဇူးတော်(များ)ကို ရေတွက်နိုင်ကြမည်မဟုတ်ပေ။ မလွဲဧကန် မနုဿ လူသား(တို့)သည် အမှန်ပင် အလွန်မတရားသောသူ(များ) အလွန်ကျေးဇူးကန်းသူ(များ)ပင် ဖြစ်(ကြ)ပေသတည်း။ ၁

>> အရာရာကို လျှို့ဝှက်စွာ တစ်မျိုး၊ ထင်ရှားစွာ တစ်ဖုံ၊ နည်းမျိုးစုံတို့နှင့် လှူဒါန်းကြရန် သတိပေးထားတော်မူသည်။ ဤသို့ သတိပေးတော်မူခြင်းမှာလည်း ကျေးဇူးတော်တစ်ရပ်ပင်။

(၂) ကိယာမတ်နေ့တွင် ကုသိုလ်ရောင်းဝယ်မှုလည်း ရှိမည်မဟုတ်၊ မိတ်ဆွေများကလည်း ကူညီမည်မဟုတ်။ ဤအကြောင်း ကုရ်အာန် (၂း ၂၅၄) တွင်လည်း ပါရှိခဲ့၏။

(၁) အလ္လာဟ်အရှင်မြတ်၏ အနန္တ ကျေးဇူးတော်များ

အလ္လာဟ်အရှင်မြတ်သည် မိုးများကိုလည်းကောင်း၊ ပထဝီမြေကြီးကိုလည်းကောင်း ဖန်ဆင်းထားတော်မူ၏။ မိုးကောင်းကင်မှ ရေကိုလည်း ရွာသွန်းချပေးတော်မူ၏။ ထိုရေဖြင့် သစ်သီးဝလံများကိုလည်း ပေါက်ရောက်စေတော်မူ၏။ သင်္ဘောများကိုလည်း သမုဒ္ဒရာပင်လယ်များတွင် သွားလာစေတော်မူ၏။ ချောင်းမြောင်းများကိုလည်း အသုံးဝင်စေတော်မူ၏။ နေနှင့်လကိုလည်း သွားလာလှုပ်ရှားစေတော်မူ၏။ နေ့နှင့် ညဉ့်ကိုလည်း အလှည့်ကျဖြစ်ပေါ်စေတော်မူ၏။ နှုတ်ဖြင့်ဖြစ်စေ၊ အမူအရာဖြင့်ဖြစ်စေ လူသားတို့ တောင်းဆိုသမျှသောအရာများအနက် (သဘာဝအလျောက်) လိုအပ်သမျှသော အရာအားလုံးတို့ကိုလည်း ထိုအရှင်မြတ်သည် ပေးသနားထားတော်မူ၏။ ထိုအရှင်မြတ်၏ ကျေးဇူးတော်များကား အနန္တော အနန္တဖြစ်၏။ ရေတွက်၍ ကုန်ဆုံးနိုင်မည်မဟုတ်ပေ၊>>

وَإِذْ قَالَ إِبْرَٰهِيمُ رَبِّ ٱجْعَلْ هَٰذَا ٱلْبَلَدَ ءَامِنًا وَٱجْنُبْنِى وَبَنِىَّ أَن نَّعْبُدَ ٱلْأَصْنَامَ ﴿٣٥﴾

၃၅။ ၎င်းပြင် (ပြန်လည်၍ သတိရကြလေကုန်) တစ်ရံရောအခါဝယ် (နဗီတမန်တော်)အီဗ်ရာဟီမ်သည် (အလ္လာဟ်အရှင်မြတ်အထံတော်၌ ဤသို့)လျှောက်ထား ပန်ကြားခဲ့လေသည်။ အို-ကျွန်တော်မျိုးအား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်၊ အရှင်မြတ်သည် *ဤမြို့ကို ငြိမ်းချမ်းသာယာသော မြို့အဖြစ် ပြုလုပ်ပေးသနားတော်မူပါ။* [၁] ထို့ပြင် အရှင်မြတ်သည် ကျွန်တော်မျိုးအားလည်းကောင်း၊ ကျွန်တော်မျိုး၏ သားများကိုလည်းကောင်း၊ ကျွန်တော်မျိုးတို့သည် ရုပ်ပွားဆင်းတုများကို မကိုးကွယ်မိကြရန် *ကင်းဝေးစွာ ထားရှိတော်မူပါ။* [၂]

---

➤➤ အထက်ဖော်ပြပါ အရာများကို လူသားတို့သည် မိမိတို့ကြိုက်နှစ်သက်သလို ခြယ်လှယ်နိုင်ကြသည် မရှိသော်လည်း ထိုထိုသောအရာများကို အကြောင်းပြု၍ အမျိုးမျိုး အကျိုးခံစားလျက် ရှိကြပေသည်။ အမှန်မှာ - ထိုထိုသောအရာများသည် လူသားတို့အား တစ်နည်းမဟုတ် တစ်နည်း အချိန်မရွေး အကျိုးပြုလျက် ရှိကြပေသည်။ လူသားတို့ အိပ်စက်နေချိန်၌လည်း ထိုအရာများသည် လူသားတို့အား အကျိုးပြုလျက်ရှိသည်။ လူသားတို့သည် အေးဆေးစွာ ထိုင်နေကြသည့် အချိန်၌လည်း ထိုအရာများသည် လူသားတို့အတွက် ပြေးလွှား လှုပ်ရှားလျက် ရှိကြပေသည်။အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကား အနန္တော အနန္တပေတည်း။ သို့ပါလျက် လူသားတို့တွင် အလွန်မတရားသော၊ အလွန်ကျေးဇူးကန်းသော သူများလည်း အမြောက်အမြား ရှိနေပေသေးသည်။ ၎င်းတို့သည် ဤသည့် ကျေးဇူးတော်များကို ကိုယ်တိုင်ခံစားကြရပါလျက် ကျေးဇူးတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အား သွေဖည်ခဲ့ကြပေသည်။

(၁) ဤအာယတ်တော်တွင် 'ဤမြို့' ဟူသည် မက္ကာမြို့တော်ကို ဆိုလိုသည်။

'ဤမြို့ကို ငြိမ်းချမ်းသာယာသော မြို့အဖြစ်ပြုလုပ်ပေးတော်မူပါ' ဟု တမန်တော် အီဗ်ရာဟီမ်က ပန်ကြားခဲ့သည့်အတိုင်း အလ္လာဟ်အရှင်မြတ်ကလည်း မက္ကာမြို့တော်ကို ငြိမ်းချမ်းသာယာသော မြို့တော်အဖြစ်သို့ ပြုလုပ်ပေးထားတော်မူခဲ့သည်မှာ မျက်မြင်ကိုယ်တွေ့ပင်။

(၂) တမန်တော် အီဗ်ရာဟီမ်က- 'ကျွန်တော်မျိုးကို လည်းကောင်း၊ ကျွန်တော်မျိုး၏ သား(သမီး)များကို လည်းကောင်း၊ ရုပ်တုကိုးကွယ်ခြင်းမှ ကင်းဝေးစွာ ဖယ်ရှားထားတော်မူပါ' ဟု ဆုပန်ကြားခဲ့လေသည်။ ဤ အာယတ်တော်တွင် ပါရှိသည့် 'သားသမီးများ' ဟူသည် တမန်တော်ကြီး၏ ရင်သွေးများကို ဆိုလိုသည်။ တမန်တော်ကြီး၏ ရင်သွေးများတွင်မူ ဆင်းတုကိုးကွယ်ခြင်းတည်းဟူသော ရောဂါမရှိခဲ့ပေ။ အကယ်၍ သားသမီးများဟူသည် တမန်တော်ကြီး၏ မျိုးနွယ်ဆက်ကို ဆိုသည်ဟူ၍လည်း ယူဆနိုင်သည်။ ဤသို့ယူဆလျှင် တမန်တော်ကြီး၏ ဆုမွန်သည် အချို့ မျိုးနွယ်ဝန်သများအဖို့ မပြည့်ခဲ့ဟူ၍ ယူဆရပေမည်။

رَبِّ إِنَّهُنَّ أَضْلَلْنَ كَثِيرًا مِّنَ النَّاسِ ۖ فَمَن تَبِعَنِي فَإِنَّهُ مِنِّي ۖ وَمَنْ عَصَانِي فَإِنَّكَ غَفُورٌ رَّحِيمٌ ﴿٣٦﴾

၃၆။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ဧကန်မလွဲ ယင်းရုပ်ပွားဆင်းတုများသည် များစွာသောသူတို့အား လမ်းလွဲစေခဲ့ကြကုန်၏။ [၁] သို့ဖြစ်ပေရာ မည်သူမဆို ကျွန်တော်မျိုး၏ စကားကို နာခံခဲ့ပါလျှင် ဧကန်စင်စစ် ထိုသူသည် ကျွန်တော်မျိုး၏ အုပ်စုအနက်မှ ဖြစ်ပါသည်။ သို့ရာတွင် မည်သူမဆို ကျွန်တော်မျိုး၏ အမိန့်ကို ဖီဆန်ခဲ့ပါမူ၊ အမှန်စင်စစ် အရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပါသတည်း။ [၂]

رَّبَّنَا إِنِّي أَسْكَنتُ مِن ذُرِّيَّتِي بِوَادٍ غَيْرِ ذِي زَرْعٍ عِندَ بَيْتِكَ

၃၇။ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၊ ဧကန်အမှန် ကျွန်တော်မျိုးသည် မိမိသားသမီးအချို့ကို အရှင်မြတ်၏ မြင့်မြတ်လှစွာသောအိမ်တော်ပါးတွင် လယ်ယာကိုင်းကျွန်းမရှိသော တောင်ကြားဒေသတစ်ခု၌ နေရာချထားခဲ့ပါသည်။

---

(၁) ရုပ်တုများက မြောက်မြားစွာသော လူသားတို့အား လမ်းလွဲစေခဲ့ကြသည်ဟု မိန့်ဆိုတော်မူရာ၌ ယင်းရုပ်တုများက လူသားတို့အား အမှန်တကယ် လမ်းလွဲစေလိုသော စေတနာဖြင့် လမ်းလွဲစေခဲ့ကြသည်မဟုတ်၊ ရုပ်တုများသည် သက်မဲ့များသာ ဖြစ်ချေသည်။ ဆိုလိုသည်ကား ယင်းရုပ်တုများသည် မြောက်မြားစွာသော လူသားတို့ လမ်းလွဲမှားရန် အကြောင်းတရားဖြစ်ခဲ့သည်ဟူလို။

'ဤအာယတ်တော်တွင် ပါရှိသည့် မြောက်မြားစွာသော လူသားတို့အား' ဟူသော စကားသည် ဤပစ္စက္ခ မျက်မှောက်ဘဝ၌ ရုပ်တုကိုးကွယ်သူများ အမြောက်အမြားရှိမည်ကို တစ်နည်းအားဖြင့် ညွှန်လျက်ရှိ၏။ ဤကား မျက်မြင်ကိုယ်တွေ့ပင်။ မာဂျိဒီ။

(၂) ဆိုလိုသည်ကား အကြင်သူသည် ကျွန်တော်မျိုးတို့၏ စကားနားထောင်၏။ (ဝါ) တောင်ဟီးဒ်ကို လက်ခံ၏။ ထိုသူသည် ကျွန်တော်မျိုးတို့၏ အသင်းဝင်ဖြစ်ပါသည်။ အကြင်သူသည် ကျွန်တော်မျိုး၏ စကားကို သွေဖည်၏ (ဝါ) တောင်ဟီးဒ်ကို လက်မခံ၊ သို့ဖြစ်လျှင် အရှင်မြတ်သည် အလွန်ချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ အလွန် သနားကြင်နာ ညှာတာသောအရှင် ဖြစ်တော်မူရာ အရှင်မြတ်သည် ထိုသူ့အား ချမ်းသာခွင့်ပေးသနားတော်မူပါ။ သနားကြင်နာတော်မူပါ။ ဝန်ချတောင်းပန်ခွင့်၊ အီမာန်ယုံကြည်ခွင့် ပေးတော်မူ၍ ငရဲမီးဘေးမှ ကယ်တင်တော်မူပါဟူ၏။

الْمُحَرَّمِ ۙ رَبَّنَا لِيُقِيمُوا الصَّلَوٰةَ فَاجْعَلْ أَفْئِدَةً مِّنَ النَّاسِ تَهْوِي إِلَيْهِمْ وَارْزُقْهُم مِّنَ الثَّمَرَاتِ لَعَلَّهُمْ يَشْكُرُونَ ﴿٣٧﴾

အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ (ကျွန်တော်မျိုးတို့သည် ၎င်းတို့အား ယင်းကဲ့သို့ နေရာချ၍ထားခဲ့ခြင်းမှာ) ၎င်းတို့သည် ဆွလာတ်ဝတ်ပြုမှုကို ဆောက်တည်ကြအံ့သောငှာ နေရာချ၍ ထားခဲ့ခြင်းပင်) ဖြစ်ပါသည်။ သို့ဖြစ်ပေရာ အရှင်မြတ်သည် လူများ၏စိတ်နှလုံးများကို ၎င်းတို့ဘက်သို့ယိမ်းညွတ်အောင် ပြုလုပ်၍ ပေးသနားတော်မူပါ။ ထို့ပြင် ၎င်းတို့သည် ကျေးဇူးတော်ကို သိကြအံ့သောငှာ အရှင်မြတ်သည် ၎င်းတို့အားသစ်သီးဝလံများကိုစားနပ်ရိက္ခာအဖြစ် ချီးမြှင့်တော်မူပါ။ ၁

(၁) ဤအာယတ်တော်တွင် 'အချို့သားသမီး' ဟူသည် သားတော်အီစ်မာအီလ်ကို ဆိုလိုသည်။ အဘယ်ကြောင့်ဆိုသော် ထိုအချိန်တွင် သားတော်အစ္စဟာက်နှင့် အခြားအိမ်သူအိမ်သားများသည် ဆီးရိယားနိုင်ငံတွင် ရှိနေခဲ့ကြပေသည်။

အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ တမန်တော် အီဗ်ရာဟီမ်သည် နို့စို့ရွယ်ဖြစ်သော သားတော်အီစ်မာအီလ်နှင့် ၎င်း၏မယ်တော် ဟာဂျိရဟ်သခင်မတို့အား လွင်တီးခေါင်သဲကန္တာရတွင် လာရောက်ပစ်ထားခဲ့လေသည်။ အလ္လာဟ်အရှင်မြတ်သည် သားတော်အီစ်မာအီလ်၏ မွတ်သိပ်မှုနှင့် ဟာဂျိရဟ်သခင်မ၏ ပူပန်စိုးရိမ်မှုကို သိမြင်တော်မူသောအခါ၊ ကောင်းကင်တမန်တစ်ပါးကို စေလွှတ်၍ ဇမ်ဇမ်တွင်းရေကို ဖန်တီးပေးတော်မူခဲ့လေသည်၊ ထိုသည့် ဇမ်ဇမ်ရေကို တွေ့မြင်သော ဂျုရ်ဟွန်မ်မျိုးနွယ်စုတို့သည် ထိုသားအမိနှစ်ဦးရှိရာသို့ ရောက်ရှိလာခဲ့ကြပေသည်။ ထို့နောက် ဟာဂျိရဟ်သခင်မ၏ ခွင့်ပြုချက်အရဂျုရ်ဟွန်မ် မျိုးနွယ်စုတို့သည်လည်း ထိုအရပ်၌ပင် အခြေစိုက်နေထိုင်ခဲ့ကြလေသည်။ သားတော် အီစ်မာအီလ် အရွယ်ရောက်လာသောအခါ ဂျုရ်ဟွန်မ် မျိုးနွယ်ဝင် အမျိုးသမီးတစ်ဦးနှင့်ပင် ထိမ်းမြားခဲ့လေသည်။

ဤသို့အားဖြင့် (ယနေ့မက္ကာမြို့တော် တည်ရှိရာနေရာ၌) ရွာကလေးတစ်ခု ဖြစ်ပေါ်လာခဲ့လေသည်။ တမန်တော်အီဗ်ရာဟီမ်သည် ဆီးရိယားနိုင်ငံမှ ထိုသားအမိနှစ်ဦးတို့ထံသို့ ရံဖန်ရံခါ ကြွလာတော်မူလေ့ရှိပေသည်။

တမန်တော်အီဗ်ရာဟီမ်သည် ထိုမြို့နှင့်ထိုမြို့သူမြို့သားများအဖို့ ဆုပန်ကြားခဲ့သည်မှာ - 'အို-အရှင်မြတ်၊ ကျွန်တော်မျိုးသည် ကိုယ်တော်အရှင်မြတ်၏ အမိန့်တော်အရ မိမိ၏သားတစ်ယောက်ကို ဤလွင်တီးခေါင် သဲကန္တာရတွင် ကိုယ်တော်၏ ကျောင်းတော်ပါး၌ လာရောက်နေရာ ချထားလိုက်ပါပြီ၊ ဤကဲ့သို့လာရောက်နေရာချထားခြင်းမှာ သားတော် အီစ်မာအီလ်နှင့် ၎င်း၏ သားသမီး၊ မြေး၊ မြစ်၊ မျိုးနွယ်စဉ်ဆက်တို့သည် အရှင်မြတ်၏ကျောင်းတော်ကို ပြုစုနိုင်ကြမည်ဖြစ်ပါသည်။ အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် ၎င်းတို့ဘက်သို့ အချို့သူများ၏ စိတ်နှလုံးများကို လှည့်ပေးတော်မူပါ၊ သို့ဖြစ်လျှင် ၎င်းတို့သည် ဤဌာနသို့ ရောက်ရှိလာပြီး အရှင်မြတ်အား ဝတ်ပြုနိုင်ကြပါမည်။ မြို့တော်လည်း သာယာစည်ပင်၍ လာပါမည်။ ထို့ပြင့်တစ်ဝ အရှင်မြတ်သည် ၎င်းတို့အား ဖောသီစွာ စားသုံးနိုင်ရန်အတွက် စားနပ်ရိက္ခာကိုလည်း ပေးသနားတော်မူပါ။ ➤➤

رَبَّنَآ إِنَّكَ تَعْلَمُ مَا نُخْفِى وَمَا نُعْلِنُ ۗ وَمَا يَخْفَىٰ عَلَى ٱللَّهِ مِن شَىْءٍ فِى ٱلْأَرْضِ وَلَا فِى ٱلسَّمَآءِ ﴿٣٨﴾

၃၈။ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့ လျှို့ဝှက်ကြသော အချက်တို့ကိုလည်းကောင်း၊ ကျွန်တော်မျိုးတို့ ထင်ရှားစေကြကုန်သောအချက်တို့ကိုလည်းကောင်း၊ သိရှိတော်မူပါ၏။ စင်စစ်သော်ကား ပထဝီမြေ၌လည်းကောင်း၊ မိုးကောင်းကင်၌လည်းကောင်း၊ မည်သည့်တစ်စုံတစ်ရာမျှပင် အလ္လာဟ်အရှင်မြတ်အပေါ်၌ ဖုံးအုပ်လျက် အလျင်းမရှိပေ။

ٱلْحَمْدُ لِلَّهِ ٱلَّذِى وَهَبَ لِى عَلَى ٱلْكِبَرِ إِسْمَٰعِيلَ وَإِسْحَٰقَ ۚ إِنَّ رَبِّى لَسَمِيعُ ٱلدُّعَآءِ ﴿٣٩﴾

၃၉။ ချီးမွမ်းထောပနာအပေါင်းတို့သည် အကြင်အလ္လာဟ်အရှင်မြတ်နှင့်သာသက်ဆိုင်၏။ထိုအရှင်မြတ်သည် ကျွန်တော်မျိုးအား အသက်အရွယ် အိုမင်းကြီးရင့်ပါလျက်နှင့်ပင် (သားတော်)အီစ်မာအီလ်ကိုလည်းကောင်း၊ (သားတော်)အစ္စဟာက်ကိုလည်းကောင်း ချီးမြှင့်ပေးသနားတော်မူခဲ့၏။ ဧကန်စင်စစ် ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အမှန်ပင် ဆုတောင်းပတ္ထနာပြုခြင်းကို အလွန်ကြားတော်မူသောအရှင်မြတ်ပင်ဖြစ်တော်မူပါသတည်း။ ၁

---

➤➤ သို့ဖြစ်လျှင် ၎င်းတို့သည် အေးချမ်းသာယာစွာဖြင့် အရှင်မြတ်အား ဝတ်ပြုနိုင်ကြပါမည်။ အရှင်မြတ်၏ ကျေးဇူးတော်ကိုလည်း စောင့်သိရှိသေနိုင်ကြပါမည်..'။

အလ္လာဟ်အရှင်မြတ်သည် တမန်တော်အီဗ်ရာဟီမ်၏ အထက်ပါဆုမွန်ကို လက်ခံအတည်ပြု ပေးတော်မူခဲ့လေသည်၊ ယနေ့တိုင် နှစ်စဉ်နှင့်အမျှ ကမ္ဘာ့အရပ်ရပ်မှ ထောင်ပေါင်းများစွာသောမွတ်စ်လင်မ်တို့သည် ကျောင်းတော်သို့ သွားရောက်၍ ဟဂျ်ပြုကြသည်၊ အလွန်အဖိုးထိုက်တန်လှသော သစ်သီးဝလံများနှင့် စားဖွယ်သောက်ဖွယ်များကို ဈေးနှုန်းချိုသာစွာဖြင့် ဖောသီစွာ စားသုံးနိုင်ကြသည်မှာ မျက်မြင်ကိုယ်တွေ့ပင်။ မက္ကာမြို့တော်၌ အသီးသီးသော သစ်ပင်ဟူ၍တစ်ပင်မျှပင် မတွေ့ရှိပါဘဲလျက် ဤမွေ့ဤမျှ ဖောသီစွာ စားသုံးရခြင်းမှာ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်-(၂၈:၅၇)တွင်လည်း မိန့်ဆိုထားတော်မူသည်။ ဤအာယတ်တော်တွင် တမန်တော်အီဗ်ရာဟီမ်က 'အချို့သူများ၏စိတ်နှလုံးကို လှည့်ပေးတော်မူပါ' ဟူ၍သာ ပန်ကြားခဲ့၏။ သို့မဟုတ်ပါမူ၊ ကမ္ဘာ့အဝန်းရှိ လူသားအားလုံးတို့သည် ကျောင်းတော်သို့ မုချ ရောက်ရှိလာကြမည် ဖြစ်သည်ဟူ၍လည်း အချို့မုဖတ်စ်စစ်ရ်သုခမိန်ကြီးများက ဖွင့်ဆိုရေးသားထားကြသည်။

(၁) တမန်တော် အီဗ်ရာဟီမ်သည် သားကောင်းများ၊ သားလိမ္မာများရရှိရန် အလ္လာဟ်အရှင်မြတ်ထံ ➤➤

رَبِّ اجْعَلْنِي مُقِيمَ الصَّلٰوةِ وَمِن ذُرِّيَّتِي ۖ رَبَّنَا وَتَقَبَّلْ دُعَآءِ ﴿٤٠﴾

၄၀။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ကျွန်တော်မျိုးအား အမြဲတစေ 'ဆွလာတ်' ဝတ်ပြုသူ ပြုလုပ်တော်မူပါ။ ထိုနည်းတူစွာ ကျွန်တော်မျိုး၏ နောက်သားနောက်မြေးတို့အနက်မှလည်း (ဆွလာတ်ဝတ်ပြုသူများပြုလုပ်တော်မူပါ)။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုး၏(ဤ) ဆုမွန်ပတ္ထနာကို သဘောတူ လက်ခံတော်မူပါ။ [၁]

رَبَّنَا اغْفِرْ لِي وَلِوَالِدَيَّ وَلِلْمُؤْمِنِينَ يَوْمَ يَقُومُ الْحِسَابُ ﴿٤١﴾

၄၁။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် စစ်ဆေးမှုဖြစ်ပေါ်လာမည့်နေ့တွင် ကျွန်တော်မျိုးအားလည်းကောင်း၊ *ကျွန်တော်မျိုး၏ မိဘနှစ်ပါးအားလည်းကောင်း၊* [၂] မုအ်မင်န်သက်ဝင်ယုံကြည်သူတို့အား လည်းကောင်း၊ (အပြစ်မှ)လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူပါ။

➤➤ဆုပန်ကြားခဲ့ဘူး၏။ ကြည့်-ကုရ်အာန်(၃၈:၁၀၀-၁၀၁)။ သားသမီးများသည် မိဘတို့အဖို့ အလွန်ကြီးမားလှသော ဆုလာဘ်တစ်ခု၊ အဖိုးထိုက်တန်လှသည့် ရတနာတစ်ပါးပင်ဖြစ်၏။ အထူးသဖြင့် သက်ရွယ်ကြီးရင့်ခါမှ ရရှိသော သားလိမ္မာ သမီးလိမ္မာများသည် အလ္လာဟ်အရှင်မြတ်၏ ကြီးမားလှသော ကျေးဇူးတော်တစ်ပါးပင်ဖြစ်၏။ ထို့အတွက်ကြောင့်လည်း တမန်တော် အီဗ်ရာဟီမ်က သက်ရွယ်ကြီးရင့်ခါမှ သားတော်နှစ်ပါးရသည့်အတွက် အလ္လာဟ်အရှင်မြတ်အား အထူးတလည် ကျေးဇူးတင်ခဲ့ခြင်းဖြစ်သည်။

(၁) တမန်တော် အီဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်)သည် အလွန်ကျော်ကြားသော တမန်တော်ကြီးတစ်ပါးဖြစ်ခဲ့၏။ ထိုကဲ့သို့သော တမန်တော်ကြီးတစ်ပါးကပင်လျှင် အလ္လာဟ်အရှင်မြတ်အထံတော်၌ 'အရှင်မြတ်သည် ကျွန်တော်မျိုးအား ဆွလာတ် ဝတ်ပြုမှုကို စနစ်တကျ အမြဲတစေ ဆောက်တည်နိုင်သူအဖြစ် ပြုလုပ်ပေးတော်မူပါ' ဟု ဆုတောင်းပတ္ထနာပြုခဲ့၏။ ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် ဆွလာတ်သည် အဘယ်မျှ အရေးကြီးသော အစ္စလာမ် ကျင့်ဝတ်တစ်ပါး ဖြစ်သည်ကို ကောင်းစွာသိနိုင်ပေသည်။

တမန်တော် အီဗ်ရာဟီမ်သည် မိမိမျိုးနွယ်ဆက်များအဖို့ ဆုမွန်တောင်းရာတွင်၊ မိမိ၏ မျိုးနွယ်ဆက်အားလုံးအဖို့ ဆုမတောင်းခဲ့ပေ၊ အချို့အဖို့သာ ဆုတောင်းခဲ့ပေသည်။ ယင်းသို့ အချို့မျိုးနွယ် ဆက်များအဖို့သာ ဆုတောင်းခြင်းမှာ တမန်တော်ကြီးသည် မိမိ၏ မျိုးနွယ်ဆက်များတွင် မုအ်မင်န်မဟုတ်သူများလည်း ရှိမည်ကို ဝဟီဖြင့် သိနှင့်တော်မူသည့် အတွက်ကြောင့်ပင် ဖြစ်သည်။

(၂) တမန်တော် အီဗ်ရာဟီမ်သည် မိမိ၏ဖခင်ကြီးအတွက် လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားခဲ့ခြင်းမှာ၊ အကယ်၍ ယင်းပန်ကြားခြင်းသည် မိမိ၏ဖခင်ကြီး ကာဖိရ်အဖြစ်နှင့် သေဆုံးသည့်သတင်းမရမီ အလျင်ဖြစ်ပါက➤➤

وَلَا تَحۡسَبَنَّ ٱللَّهَ غَٰفِلًا عَمَّا يَعۡمَلُ ٱلظَّٰلِمُونَۚ إِنَّمَا يُؤَخِّرُهُمۡ لِيَوۡمٖ تَشۡخَصُ فِيهِ ٱلۡأَبۡصَٰرُ ﴿٤٢﴾

၄၂။ ထိုမှတစ်ပါးအသင်သည် အလ္လာဟ်အရှင်မြတ်အား မတရားသောသူများ ကျင့်မူကြကုန်သော အမှုကိစ္စတို့မှ အမှုမဲ့အမှတ်မဲ့ နေတော်မူသောအရှင်မြတ်ဟူ၍ အလျင်းမထင်မှတ်လေနှင့်၊ ထိုအရှင်မြတ်သည် ၎င်းတို့အား အကြင်နေ့တိုင်အောင် ရွှေ့ဆိုင်းခွင့် *ပေးထားတော်မူခြင်းသာလျှင်* [၁] ဖြစ်ပေသည်။ ထိုနေ့တွင် (ကာဖိရ် သွေဖည် ငြင်းပယ်ကြကုန်သောသူတို့၏)မျက်စိ မျက်ဆံများသည် (မျက်တောင်မခတ်) *စူးစိုက်လျက်ပင် ရှိကုန်အံ့သတည်း။* [၂]

---

➤➤ ဤပန်ကြားခြင်း၏ အလိုသဘောမှာ အလ္လာဟ်အရှင်မြတ်က ဖခင်ကြီးအား အီမာန်ယုံကြည်နိုင်စွမ်းပေးတော်မူ၍ ကိယာမတ်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူရန်ဟူ၍ ဖြစ်ပေမည်၊ အကယ်၍ ဤပန်ကြားခြင်းသည် ဖခင်ကြီးသေဆုံးပြီးနောက်မှဖြစ်သော်၊ ထိုအချိန်အထိ အလ္လာဟ်အရှင်မြတ်က ကာဖိရ်တစ်ဦးအဖို့ လွတ်ငြိမ်းချမ်းသာခွင့် အလျင်းမရှိကြောင်း တမန်တော် အီဗ်ရာဟီမ်အား အသိပေးတော်မူခဲ့ဟန်မရှိသေးချေ။

ထို့ပြင်တဝ အသိဉာဏ်နှင့်ယှဉ်၍ စဉ်းစားလျှင် ကာဖိရ် တစ်ဦးအဖို့ လွတ်ငြိမ်းခွင့် အလျင်းမရှိဟူ၍ မထင်နိုင်ပေ။ ကျမ်းဂန်လာ ဒေသနာတော်များအရသာလျှင် ကာဖိရ်တစ်ဦးအဖို့ လွတ်ငြိမ်းချမ်းသာခွင့်ရရှိရန် အလျင်း မဖြစ်နိုင်ပေ၊ ကျမ်းဂန်လာဒေသနာတော်များကို မကြားနာရမီအချိန်တွင် အသိဉာဏ်နှင့်ယှဉ်၍ သိရှိရသော အယူအဆသည် ပင်ဖြစ်ပေမည်။ ထို့အတွက်ကြောင့်လည်း တမန်တော် အီဗ်ရာဟီမ်သည် မိမိ၏ဖခင်ကြီးအတွက် လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားဟန်တူသည်။

ကုရ်အာန် (၉း၁၁၄)တွင် တမန်တော် အီဗ်ရာဟီမ်၏ ဖခင်သည် အလ္လာဟ်အရှင်မြတ်၏ ရန်သူ(ဝါ) ကာဖိရ်ဖြစ်သည်ဟု ပါရှိ၏။ ဤအာယတ်တော်တွင်ပါရှိသည့် တမန်တော်အီဗ်ရာဟီမ်၏ ဖခင်ဟူသည် ဖခင်အရင်းအချာမဟုတ်၊ တမန်တော် အီဗ်ရာဟီမ်၏ဦးကြီး၊ သို့မဟုတ် ဆွေမျိုးထဲမှ အခြားအကြီးအကဲ တစ်ဦးဖြစ်သည်ဟု ရှိအဟ်များက ဆိုကြသည်။

(၁) ဤကဏ္ဍအပိုဒ်(၅)တွင် အလ္လာဟ်အရှင်မြတ်၏ အနန္တကျေးဇူးတော်များကို ထုတ်ဖော်တော်မူပြီး လူသားသည် အလွန်မတရားသူ၊ အလွန်ကျေးဇူးကန်းသူ ဖြစ်သည်’ ဟူ၍ မိန့်ကြားတော်မူခဲ့၏။ ကြည့်-ကုရ်အာန်(၁၄း၃၂-၃၄)၊ ထို့နောက် တမန်တော်အီဗ်ရာဟီမ်၏ အကြောင်းကို မိန့်မြွက်၍ မက္ကာမြို့သား ကာဖိရ်တို့အား ပြုတော်မူခဲ့သည့် အလွန်ထူးခြားသည့် ကျေးဇူးတော်များကို ပြန်လည်သတိရစေတော်မူခဲ့၏။ ထို့နောက် ၎င်းတို့၏ ကျေးဇူးကန်းမှု၊ ကျူးကျော်မှု၊ ယှဉ်တွဲကိုးကွယ်မှုများကို မိန့်ဆိုထားတော်မူခဲ့၏။ ယခု ဤအပိုဒ်တွင် ယင်းကာဖိရ်တို့အား ၎င်းတို့သည် အကယ်၍ ပြစ်ဒဏ်ခံစားကြရာတွင် အနည်းငယ်ကြန့်ကြာသော်၊ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ အပြုအမူအကျင့်အကြံများကို မသိတော်မူ၍ဖြစ်သည်ဟု မထင်မှတ်ကြရန် သတိပေးထားတော်မူသည်။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ကိစ္စကြီးငယ်အားလုံးတို့ကို အကြွင်းမဲ့ သိတော်မူသည်။ သို့ရာတွင် ➤➤

مُهْطِعِيْنَ مُقْنِعِيْ رُءُوْسِهِمْ لَا يَرْتَدُّ إِلَيْهِمْ طَرْفُهُمْ ۚ وَأَفْئِدَتُهُمْ هَوَاءٌ ﴿٤٣﴾

၄၃။ (ထိုနေ့တွင် ၎င်းတို့သည်) မိမိတို့၏ဦးခေါင်းများကို မော့၍ ပြေးလွှားလျက်ပင် ရှိကြပေမည်။ (ထိုနေ့တွင်) ၎င်းတို့၏မျက်စိများသည် ၎င်းတို့ဘက်သို့ ပြန်လှည့်မည်မဟုတ်ပေ။ (ဝါ) ၎င်းတို့သည် မျက်တောင်မခတ်ဘဲ ရှိကြမည်။ ထိုမှတစ်ပါး ၎င်းတို့၏စိတ်နှလုံးများသည်လည်း လွင့်ပျံ့လျက်ပင် ရှိနေကြပေမည်၊ (ဝါ) သတိရှိကြမည် မဟုတ်ပေ။

وَأَنْذِرِ النَّاسَ يَوْمَ يَأْتِيْهِمُ الْعَذَابُ فَيَقُوْلُ الَّذِيْنَ ظَلَمُوْا رَبَّنَا أَخِّرْنَا إِلَى أَجَلٍ قَرِيْبٍ ۙ نُّجِبْ دَعْوَتَكَ وَنَتَّبِعِ

၄၄။ ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် လူတို့အား ၎င်းတို့ထံ ပြစ်ဒဏ်ရောက်ရှိလာမည့်နေ့နှင့်စပ်လျဉ်း၍ သတိပေး နှိုးဆော်ပါလေ၊ ထိုအခါ မကောင်းမှုကိုကျူးလွန်ခဲ့ကြသောသူတို့က 'အို-ကျွန်တော်မျိုးတို့၏အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား အနည်းငယ်မျှသော အချိန်ကာလ တိုင်အောင် ရွှေ့ဆိုင်းခွင့် *ပေးသနားတော်မူပါ။* ၁

➤➤ အလ္လာဟ် အရှင်မြတ်သည် အပြစ်ရှိသူတစ်ဦးအား ရုတ်တရက် ချက်ချင်း ဖမ်းဆီး ကွပ်မျက်တော်မူလေ့မရှိပေ။ ထို အရှင်မြတ်သည် အလွန်ကြီးမားသော ပြစ်မှုများကို ကျူးလွန်သူများအားပင်လျှင် မိမိတို့၏ကျူးလွန်မှုများမှ သတိသံဝေဂရရှိရန် အချိန်ပေးတော်မူလေ့ရှိ၏။ သို့ အချိန်ပေးတော်မူပါလျက် သတိသံဝေဂမရကြပါမူ၊ ယင်းသို့သော သူမိုက်များအဖို့ တရားဥပဒေအရ ပြစ်ဒဏ်မှ လွတ်မြောက်ရန်အကြောင်း အလျင်းမရှိတော့ပေ။

၂ ကိယာမတ်နေ့တွင် မဟ်ရှရ်၌ ကာဖိရ်များသည် အလွန့်အလွန် ပူပန်စိုးရိမ်ကြောက်လန့်ပြီး မျက်စိများပြူးလျက်ရှိကြမည်။ အကြောက်ကြီး ကြောက်ပြီး ဦးခေါင်းမော့ကာ ပြေးလွှားလျက် ရှိကြမည်။ မျက်စိများမှာလည်း ကြည့်မိကြည့်ရာ စူးစိုက်နေကြပေမည်။ မျက်တောင်မခတ်ဘဲ ရှိကြမည်။ စိတ်နှလုံးများသည် တုန်လှုပ်ချောက်ချားလျက်ရှိကြမည်၊ ထိတ်ထိတ်လန့်လန့် ကြောက်ကြောက်ရွံ့ရွံ့ တုန်တုန်ရီရီ တွေတွေဝေဝေ စိုးရိမ်ကြောင့်ကြလျက် ရှိကြမည်၊ အချုပ်အားဖြင့် ထိုနေ့သည် ကာဖိရ်များအဖို့ အလွန်ကြေကွဲဖွယ်နေ့ကြီး ဖြစ်ပေမည်။ မုအ်မင်န်တို့မူကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ကုရ်အာန်ကျမ်းမြတ်(၂၁း၁၀၃)တွင် လာရှိသည့်အတိုင်း ပူပန်သောက ဖြစ်ကြရမည်မဟုတ်ပေ၊ ကောင်းကင်တမန်များလည်း ၎င်းတို့အား လာရောက် ကြိုဆိုကြမည်ဖြစ်သည်။

၁ ဤအာယတ်တော်တွင် '၎င်းတို့ထံ ပြစ်ဒဏ်ဆိုက်ရောက်သည့်နေ့' ဟူသည်ကား -
(၁) ကိယာမတ်နေ့နှင့် နောင်တမလွန်ဘဝ၏ ပြစ်ဒဏ်ကို ဆိုလိုသည်ဟူ၍သော်လည်းကောင်း။
(၂) အသက်သေဆုံးသည့်အချိန်နှင့် သေအုံ့ဆဲဆဲ ခံစားရသည့်ဒုက္ခကို ဆိုလိုသည်ဟူ၍သော်လည်းကောင်း၊ ➤➤

الرُّسُلَ ۗ أَوَلَمْ تَكُونُوا أَقْسَمْتُم مِّن قَبْلُ مَا لَكُم مِّن زَوَالٍ ﴿٤٤﴾

ကျွန်တော်မျိုးတို့သည် အရှင်မြတ်၏ ဖိတ်ခေါ်ချက်ကို သဘောတူလက်ခံကြပါမည်။ ထိုမှတစ်ပါး ကျွန်တော်မျိုးတို့သည် ရစူလ်တမန်တော်များ၏အမိန့်ကိုလည်းလိုက်နာကြပါမည်' ဟု ပြောဆိုလျှောက်ထားကြလတ္တံ့။ (ထိုရောအခါဝယ် အလ္လာဟ်အရှင်မြတ်သည် ဤသို့ ပြန်ကြားတော်မူအံ့)၊ အသို့ပါနည်း။ အသင်တို့သည် ယခင်မူလက မိမိတို့၌ မည်သို့မျှ လွဲဖယ်တိမ်းယိမ်း ပျက်စီးယိုယွင်းမှုသည် အလျှင်းရှိလိမ့်မည်မဟုတ်ဟူ၍ ကျိန်ဆို(ပြောဆို)ခဲ့ကြသည် မဟုတ်တုံလော။

وَسَكَنتُمْ فِي مَسَاكِنِ الَّذِينَ ظَلَمُوا أَنفُسَهُمْ وَتَبَيَّنَ لَكُمْ كَيْفَ فَعَلْنَا بِهِمْ وَضَرَبْنَا لَكُمُ

၄၅။ အမှန်စင်စစ်သော်ကား၊ သင်တို့သည် မိမိတို့ကိုယ်ကို မိမိတို့ နှိပ်စက်ကလူ ပြုမူခဲ့ကြကုန်သောသူတို့ နေထိုင်ရာအရပ်များ၌ပင် နေထိုင်ခဲ့ကြကုန်၏။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ၎င်းတို့အား မည်သို့ပြုလုပ်တော်မူခဲ့သည်မှာလည်း အသင်တို့ရှေ့၌ ထင်ရှားခဲ့လေပြီ။

➤➤ (၃) ဤပစ္စက္ခဘဝတွင် ပြစ်ဒဏ်ဆိုက်ရောက်သည့်နေ့ကို ဆိုလိုသည်ဟူ၍သော်လည်းကောင်း အသီးသီးအနက်ကောက်နိုင်သည်။

ကာဖိရ်များက ဤစကားကို ဤပစ္စက္ခဘဝ ပြစ်ဒဏ်ဆိုက်ရောက်သည့်အချိန် သို့မဟုတ် အသက်သေဆုံးခါနီး ခံစားရသည့် ပြင်းထန်မှုကို တွေ့မြင်၍ ပြောဆိုသည်ရှိသော်၊ အလိုသဘောမှာ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား နောက်ထပ် ရက်အနည်းငယ် အသက်ရှင်ခွင့်ပြုတော်မူပါ၊ ကျွန်တော်မျိုးတို့သည် မိမိတို့၏ အကျင့်အမူကို ပြုပြင်ကြပါမည်၊ (ဝါ) အရှင်မြတ်၏ ဖိတ်ကြားချက်ကို လက်ခံကြပါမည်၊ တမန်တော်များ၏ ဩဝါဒများကိုလည်း မြေဝယ်မကျ နာခံကြပါမည်' ဟူ၏၊ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ်(၂၃း၉၉-၁၀၀)တွင်လည်း မိန့်ဆိုထားတော် မူပါသည်။

ကာဖိရ်များက ဤစကားကို ကိယာမတ်နေ့တွင် ပြောဆိုသည်ရှိသော် အချိန်တောင်းဆိုခြင်း၏ အလိုသဘောမှာ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား လူ့လောကသို့ ခေတ္တပြန်လွှတ်တော်မူပါ၊ ကျွန်တော်မျိုးတို့ သစ္စာတော်ကို စောင့်သိရိုသေကြပါမည်။ (ဝါ) အရှင်မြတ်၏ အမိန့်ပညတ်တော်များကို နာခံကြပါမည်။ တမန်တော်များ၏ ဩဝါဒများကိုလည်း လိုက်နာကြပါမည်ဟူ၏။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၃၂း၁၂)တွင်လည်း မိန့်ဆိုထားတော်မူသည်။

الْأَمْثَالَ ﴿٤٥﴾

ထိုမှတစ်ပါး ငါအရှင်မြတ်သည် အသင်တို့ အကျိုးငှာ ဥပမာ ပုံဆောင်ချက်များကိုလည်း ခိုင်းနှိုင်း ပြတော်မူခဲ့လေသတည်း။ [၁]

وَقَدْ مَكَرُوا مَكْرَهُمْ وَعِندَ اللَّهِ مَكْرُهُمْ وَإِن كَانَ مَكْرُهُمْ لِتَزُولَ مِنْهُ الْجِبَالُ ﴿٤٦﴾

၄၆။ ထို့ပြင် ၎င်းတို့သည် မိမိတို့၏ လျှို့ဝှက် ကြံစည်မှုကို ကြံစည်ခဲ့ကြလေသည်။ စင်စစ်သော်ကား ၎င်းတို့၏ လျှို့ဝှက်ကြံစည်မှုသည် *အလ္လာဟ်အရှင်မြတ်၏ရှေ့တော်၌ပင် ရှိခဲ့လေသည်။* [၂] အမှန်စင်စစ်မှာ မူကား ၎င်းတို့၏လျှို့ဝှက်ကြံစည်မှုသည် ယင်းကြံစည်မှုကြောင့် *တောင်များပင်ရွေ့သွားနိုင်ကြပေသည်။* [၃]

---

(၁) အထက်၌ ပါရှိခဲ့သည့်အတိုင်း ကာဖိရ်များသည် လျှောက်ထားကြသောအခါ၊ အလ္လာဟ်အရှင်မြတ် ဘက်တော်မှ ၎င်းတို့အား ဖြေကြားထားသည်မှာ အသင်တို့ကပင် ငါတို့၏ အခြေအနေ အရှိန်အဝါများသည် ဘယ်သောအခါ၌မျှ ပျက်စီးယိုယွင်းသွားမည်မဟုတ်၊ သေပြီးနောက် အလ္လာဟ်အရှင်မြတ်ထံတော်သို့ သွားကြရမည်လည်း မဟုတ်ဟု ကျိန်ဆိုပြောဆိုခဲ့ကြသည် မဟုတ်လော။

အသင်တို့သည် မိမိတို့ကိုယ်ကို မိမိတို့စော်ကားခဲ့ကြသော သူမိုက်တို့၏ ကျေးရွာများတွင် နေထိုင်ခဲ့ကြသည်၊ ထိုသူမိုက်တို့အား အလ္လာဟ် အရှင်မြတ်က မည်သို့မည်ပုံ ကွက်မျက် ဖျက်ဆီးတော်မူခဲ့သည် ကိုလည်း အသင်တို့အသိပင်၊ ကျမ်းဂန်များတွင်လည်း အတိတ်ခေတ် အမျိုးသားတို့၏ အဖြစ်အပျက်များ ပါရှိချေပြီ။ တမန်တော်များကလည်း သတိပေးခဲ့ကြပြီ။

သို့ပါလျက် အသင်တို့ သတိမရခဲ့ကြပေ၊ သူမိုက်တို့၏ လမ်းစဉ်ကိုပင် လိုက်နာကျင့်သုံးခဲ့ကြသည်၊ အမှန်တရားကို သွေဖည်ငြင်းဆန်ခဲ့ကြသည်၊ (ယခုမူ ကိုယ်အပြစ် ကိုယ်ခံရုံသာ ရှိသည်၊ ထပ်မံ အချိန် ရွှေ့ဆိုင်းပေးရန် အကြောင်းမရှိပြီဟူသတည်း။

(၂) ရှေးနှောင်းကာဖိရ်များသည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်များနှင့် ကျမ်းဂန်များကို ဆန့်ကျင်တိုက်ဖျက်ရန် အတွက် ကိုယ်စွမ်းရှိသမျှ ဉာဏ်စွမ်းရှိသမျှ အကြံအစည် အမျိုးမျိုး ထုတ်ခဲ့ကြပေသည်။ အမှန်မှာ ၎င်းတို့၏ အကြံအစည်များသည် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင် ရှိနေပေသည်၊ သိမ်းထားပြီး ဖြစ်သည်။ ထိုအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့၏ အကြံအစည်များ၏ အပြစ်ကို ပေးတော်မူမည်သာဖြစ်တော်မူသည်။

(၃) ကာဖိရ်များသည် အမှန်တရားကို ဖျက်ဆီးရန် အမျိုးမျိုးကြံစည်အားထုတ်ခဲ့ကြပေသည်။ သို့တစေလည်း အမှန်တရားကို အလ္လာဟ်အရှင်မြတ်က ထိန်းသိမ်းစောင့်ရှောက်ထားတော်မူသည့် အတွက်ကြောင့် ၎င်းတို့၏ အကြံအစည်များသည် အချည်းနှီးသာဖြစ်သွားခဲ့လေသည်။

ကာဖိရ်တို့၏အကြံအစည်များကြောင့် တောင်များသည် ရွေ့ပါး၍မသွားပေရာ တောင်များထက် အဆပေါင်းများစွာ ပိုမိုခိုင်မြဲသော တမန်တော်များနှင့် တရားကျမ်းဂန်များသည် အသို့လျှင် ရွေ့ပါးယိမ်းယိုင် သွားနိုင်ကြအံ့နည်း။

فَلَا تَحْسَبَنَّ اللّٰهَ مُخْلِفَ وَعْدِهٖ رُسُلَهٗ ۭ اِنَّ اللّٰهَ عَزِيْزٌ ذُو انْتِقَامٍ ۝۴۷

၄၇။ သို့ဖြစ်ပေရာ အသင်သည် အလ္လာဟ်အရှင်မြတ်အား မိမိရစူလ်တမန်တော်များနှင့် ချိန်းချက်ထားရှိတော်မူသော ကတိတော်ကို ဖောက်ဖျက်တော်မူမည့်အရှင်ဟူ၍ အလျင်း မထင်မှတ်လေနှင့်။ မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် တန်ခိုးအာနုဘော်နှင့် ပြည့်စုံတော်မူသောအရှင်၊ လက်စားချေတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။ [၁]

يَوْمَ تُبَدَّلُ الْاَرْضُ غَيْرَ الْاَرْضِ وَالسَّمٰوٰتُ وَبَرَزُوْا لِلّٰهِ الْوَاحِدِ الْقَهَّارِ ۝۴۸

၄၈။ (ဤသည်တို့ကား ထိုနေ့၌ဖြစ်အံ့)၊ အကြင်နေ့တွင် (ဤ)ပထဝီမြေသည် အခြားသောပထဝီမြေဖြင့် ပြောင်းလဲသွားအံ့၊ ထိုနည်းတူစွာ (ဤ)မိုးကောင်းကင်များသည်လည်း (အခြားမိုးကောင်းကင်များဖြင့် *ပြောင်းလဲသွားလတ္တံ့*)၊ [၂] ထိုမှတစ်ပါး (ခပ်သိမ်းကုန်သောလူသတ္တဝါတို့သည်) တစ်ဆူတည်းဖြစ်တော်မူသော၊ အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူသော *အလ္လာဟ်အရှင်မြတ်၏* ရှေ့တော်မှောက်သို့ *ထွက်ပေါ်လာခဲ့ကြလတ္တံ့။* [၂]

---

(၁) အလ္လာဟ်အရှင်မြတ်သည် မိမိ၏တမန်တော်များအား ကူညီစောင့်ရှောက်တော်မူမည့်အကြောင်း၊ လွှမ်းမိုးစေတော်မူမည့်အကြောင်း အတိအလင်း ကတိပြုထားတော်မူသည်။ ကြည့်-ကုရ်အာန်(၄၀း၅၁။ ၅၈း၂၁)၊ ထိုအရှင်မြတ်သည် မိမိ၏ကတိတော်ကို ဘယ်သောအခါ၌မျှ ဖောက်ဖျက်တော်မူသည်ဟူ၍ အလျင်းမရှိပေ။ ကြည့်-ကုရ်အာန်(၃း၉။ ၁၃း၃၁)၊ ထို့ပြင်တစ်ဝ ထိုအရှင်မြတ်သည် တန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူသောအရှင်၊ တုံ့ပြန်တော်မူသောအရှင်လည်း ဖြစ်တော်မူပေသတည်း။

(၂) ကိယာမတ်နေ့တွင် ကျွန်ုပ်တို့သိရှိကြသော ဤမိုးဤမြေများသည် လက်ရှိအတိုင်း တည်ရှိကြမည် မဟုတ်ပေ။ ဤမိုး၊ ဤမြေ၏ 'ဇာတ်' ဇာတိကို ပြောင်းလဲပစ်မည်ဖြစ်သည်။ သို့တည်းမဟုတ် ဤမိုး၊ ဤမြေ၏ 'ဆီဖတ်' ဝိသေသကို ပြောင်းပစ်မည်ဖြစ်သည်၊ အချို့ 'ရိဝါယတ်' ကျမ်းချက်များအရ၊ ပြောင်းလဲမှု အကြိမ်ကြိမ်ဖြစ်ပေါ်မည်ဖြစ်သည်။ ဖြစ်ရပ်မှန်ကို အလ္လာဟ်အရှင်မြတ် အသိဆုံး ဖြစ်တော်မူသည်။

ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့်လည်းကောင်း၊ ကုရ်အာန်ကျမ်းလာ အခြားအာယတ်တော်များ၏ ရည်ညွှန်းချက်များကို ထောက်ရှုခြင်းအားဖြင့်လည်းကောင်း၊ ကိယာမတ်နေ့တွင် ဤမြေနှင့် ဤမိုးများသည် လုံးဝနတ္ထိ ဖြစ်သွားမည် မဟုတ်ကြောင်းနှင့် လက်ရှိသဘာဝ အစီအစဉ်ကိုသာ ပြောင်းလဲပစ်မည်ဖြစ်ကြောင်းကို သိရှိရပေသည်။ ပထမ တံပိုးမှုတ်ခြင်းနှင့် နောက်ဆုံး တံပိုးမှုတ်ခြင်း၏ စပ်ကြားတွင် ➤➤

၄၉။ ၎င်းပြင်အသင်သည် ထိုနေ့တွင် ပြစ်မှု ကျူးလွန်သောသူတို့အား သံကြိုးများဖြင့် ပူးတွဲချုပ်နှောင်၍ ထားလျက်(ရှိသည်ကို) တွေ့မြင်အံ့။ ၁

وَتَرَى الْمُجْرِمِينَ يَوْمَئِذٍ مُّقَرَّنِينَ فِي الْأَصْفَادِ ﴿٤٩﴾

---

➤➤ အချိန်မည်မျှကြာမည်ကို အလ္လာဟ်အရှင်မြတ်သာ သိတော်မူပေမည်။ ထိုစပ်ကြားအချိန်တွင်ပင် ဤမြေနှင့် ဤမိုးများ၏ လက်ရှိ ပုံပန်းသဏ္ဍာန်ကို ပြောင်းလဲပစ်ပြီး အခြားသဘာဝ၏ စည်းကမ်းချက်များနှင့်အညီ အခြား အစီအစဉ် ပြောင်းလဲပြုလုပ်မည် ဖြစ်သည်။ ထိုဒုတိယ အစီအစဉ်သည်ပင် နောက်တမလွန်ဘဝဖြစ်မည်။

နောက်ဆုံးတံပိုး မှုတ်လိုက်သည့်အခါ ဖခင်ကြီး အာဒမ်မှအစ ကိယာမတ်တိုင် မွေးဖွားလာခဲ့ကြကုန်သော လူသားအားလုံးတို့သည် ပြန်လည်ရှင်ထပြီး အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်သို့ ရောက်ရှိလာကြပေမည်။ ဤသည်ကိုပင် ကုရ်အာန်ကျမ်းမြတ်၌ 'ဟရှ်ရ်' ဟူ၍ မိန့်ဆိုသုံးနှုန်းထားတော်မူခြင်းဖြစ်သည်။ 'ဟရှ်ရ်'၏ မူရင်းအဓိပ္ပါယ်မှာ- စုခြင်း၊ ပေါင်းခြင်း၊ တစ်နေရာတွင် စုပေါင်းခြင်း ဟူ၍ဖြစ်သည်။

ကုရ်အာန်ကျမ်းလာ အာယတ်တော်များ၏ ရည်ညွှန်းချက်များနှင့် တမန်တော်မြတ်၏ ဟဒီးဆ်သြဝါဒတော်များကို ထောက်ရှုခြင်းအားဖြင့် 'ဟရှ်ရ်' သည် ဤမြေ၌ပင် ဖြစ်မည်ဖြစ်ကြောင်း၊ တရားရုံးတော်လည်း ဤမြေ၌ပင် ဖြစ်မည်ဖြစ်ကြောင်း၊ မီဇာန်ချိန်ခွင်တော်လည်း ဤမြေ၌ပင် ထားရှိမည်ဖြစ်ကြောင်း၊ ဤမြေနှင့် စပ်လျဉ်းသည့် ပြဿနာသည် ဤမြေ၌ပင် ရှင်းလင်းမည်ဖြစ်ကြောင်း သိရှိရပေသည်။

ထို့ပြင်တစ်ဝ အထက်ဖော်ပြပါ ကိစ္စရပ်များနှင့် ရင်ဆိုင်ရမည့် ကျွန်ုပ်တို့၏ ဒုတိယရှင်ခြင်းသည် 'ရူဟာနီ' နာမ်နှင့်သာလျှင် ဆက်စပ်နေသည့် ရှင်ခြင်းမျိုးသာမဟုတ်၊ ကျွန်ုပ်တို့ ယခုရှင်နေကြသကဲ့သို့ ရုပ်နှင့်နာမ်ပါ ဒွန်တွဲလျက်ရှိသည့် ရှင်ခြင်းမျိုးသာဖြစ်မည်။ လူတိုင်းလူတိုင်းသည် ဤပစ္စက္ခဘဝမှ ကွယ်လွန် သေဆုံးသည့် အချိန်တွင်ပါရှိခဲ့သည်၊ ကိုယ်နှင့်တကွပင် နောင်တမလွန်တွင် ရှိနေမည်ဖြစ်သည်။

တဖ်ဟီမုလ်ကုရ်အာန်။

(၂) ပွင့်လေသမျှသော တမန်တော်အပေါင်းတို့က အလ္လာဟ်အရှင်မြတ်သည် တစ်ဆူတည်းဖြစ်တော်မူကြောင်း၊ ထိုအရှင်မြတ်၌ ဂုဏ်ရည်တူ တွဲဖက်ယှဉ်ဖက်ဟူ၍ တစ်ဦးတစ်ယောက်မျှ မရှိကြောင်း၊ ထိုအရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို နိုင်နင်းလွှမ်းမိုးတော်မူသော အရှင်ဖြစ်ကြောင်း၊ အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူ ကြောင်း၊ အသီးသီး ဟောကြားခဲ့ကြကုန်သည်။

လူ့လောကတွင် ဤသည့်တရားများကို အချို့က ယုံကြည်လက်ခံခဲ့ကြသည်၊ အချို့က ငြင်းပယ်ခဲ့ကြသည်။ ကိယာမတ်နေ့တွင်မူ ယုံကြည်သောမုအ်မင်န်များနှင့် ငြင်းပယ်သော ကာဖိရ်အားလုံးတို့သည် တစ်ဆူတည်းဖြစ်တော်မူသော၊ အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်သို့ ရောက်ကြရတော့မည်။ တောင်ဟီးဒ်သည် မျက်မြင်ကိုယ်တွေ့ ဖြစ်ရတော့မည်။

(၁) ပြစ်မှုအမျိုးအစားအလိုက် ပြစ်မှုကျူးလွန်သောသူများသည် ကိုယ့်အုပ်စုနှင့်ကိုယ် အသီးသီး သံကြိုးများဖြင့် ပူးတွဲ ချုပ်နှောင်လျက်ရှိကြမည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၃၇း၂၂။ ၈၁း၇။ ၂၅း၁၃။ ၃၈း၃၈) တွင်လည်း မိန့်ဆိုထားတော်မူသည်။

سَرَابِيلُهُم مِّن قَطِرَانٍ وَتَغْشَىٰ وُجُوهَهُمُ النَّارُ ﴿٥٠﴾

၅၀။ ၎င်းတို့၏ အကျီ အဝတ်အစားများကား 'ကတ္တီရာန်' [၁] ကျောက်မီးသွေး၊ ကတ္တရာစေးဖြင့် ပြီးသော အဝတ်အစားများပင် ဖြစ်ကြပေမည်။ ထိုမှတစ်ပါး ငရဲမီးသည် ၎င်းတို့၏ မျက်နှာများကို ဖုံးအုပ်လျက်ရှိချေမည်။

لِيَجْزِيَ اللَّهُ كُلَّ نَفْسٍ مَّا كَسَبَتْ ۚ إِنَّ اللَّهَ سَرِيعُ الْحِسَابِ ﴿٥١﴾

၅၁။ (ဤသည်တို့ကား) အလ္လာဟ်အရှင်မြတ်သည် လူတိုင်းလူတိုင်းအား ၎င်းတို့ရှာဖွေ ဆည်းပူးခဲ့ကြသည်များနှင့် စပ်လျဉ်း၍ အစားပေးတော်မူရန် ဖြစ်ပေသည်။ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် လျင်မြန်စွာ စစ်ဆေးတော်မူသည့် အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

هَٰذَا بَلَاغٌ لِّلنَّاسِ وَلِيُنذَرُوا بِهِ وَلِيَعْلَمُوا أَنَّمَا هُوَ إِلَٰهٌ وَاحِدٌ وَلِيَذَّكَّرَ أُولُو الْأَلْبَابِ ﴿٥٢﴾

၅၂။ ဤ(ကုရ်အာန်ကျမ်းတော်မြတ်)သည်ကား လူတို့အဖို့ အကြောင်းကြားချက်သည်လည်းကောင်း၊ ထို့ပြင် ထိုသူတို့သည် သတိပေးနှိုးဆော်ခြင်း ခံကြရအံ့သောငှာလည်းကောင်း၊ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် တစ်ဆူတည်းသောကိုးကွယ်ရာအရှင် ဖြစ်တော်မူကြောင်း၊ ထိုသူတို့ သိရှိယုံကြည်အံ့သောငှာလည်းကောင်း၊ ထို့ပြင်တစ်ဝနိသမ္မညာဏ်ရှင်တို့သည် တရားရကြအံ့သောငှာလည်းကောင်း၊ ဖြစ်ချေသတည်း။ [၂]

---

(၁) (قَطِرَانٍ) 'ကတ္တီရာန်' ၏ကျော်ကြားသော အဓိပ္ပါယ်မှာ – 'ကန့်' ဟူ၍ ဖြစ်သည်။ ထို့ပြင်တစ်ဝ ကတ္တီရာန်ဟူသော ပုဒ်သည် အရည်ကျိုထားသော ကြေးနီ၏ အနက်၌လည်း အသုံးဖြစ်ချေသည်။

ကြည့်–မာဂျိဒီ၊ အ–၃၊ စ–၅၃၆။ အအ–၈၁။

'ကတ္တီရာန်' ဟူသည် ကန့်ကိုဆိုသည်။ ကန့်သည် မီးအလွန်လောင်ကျွမ်းလွယ်၏။ အနံ့လည်း အလွန်ဆိုး၏။ ဂျဟန္နမ်၏ မီးသည် အတိုင်းမသိ ပူပြင်းသကဲ့သို့ ဂျဟန္နမ်၏ ကန့်လည်း အတိုင်းမသိ လောင်ကျွမ်းပေမည်။ အတိုင်းမသိ အနံ့ဆိုးရွားပေမည်။ ကြည့်–အွတ်ဆ်မာနီ၊ စ–၃၃၈။ အအ–၇။ ကတ္တီရာန်သည် 'ကျိုရ်' (ထင်းရှူး)အပင်၏ အစေးကိုဆိုသည်။ အဘိဓာန်ကျမ်းများနှင့် ဆေးကျမ်းများတွင်လည်း ဤအတိုင်းပါရှိသည်။ ထာနဝီ။

အချို့ဘာသာပြန်ဆရာတော်များနှင့် မှဖတ်စ်စစ်ရ်များက ကတ္တီရာန်ဟူသောပုဒ်ကို ကန့်ဟူ၍ ➤➤

>> လည်းကောင်း၊ အရည်ကျိုထားသော ကြေးနီဟူ၍လည်းကောင်း ဘာသာပြန်ဆိုရေးသားကြသည်။ အမှန်မှာ အရဗီဘာသာစာပေတွင် ယင်းပုဒ်သည် ကတ္တရာစေးပွဲလျက်၊ ထင်းရှူးစေး ကတ္တရာစေးကို ဆိုလိုသည်။ တဖ်ဟီမုလ်ကုရ်အာန်။

(၂) ဤအာယတ်တော်သည် ဤကဏ္ဍ၏ နောက်ဆုံးအာယတ်တော်ပင်ဖြစ်သည်။ ဤအာယတ်တော်တွင် ဤကဏ္ဍတစ်ခုလုံး၏ အကျဉ်းချုပ်သဘောကို မိန့်ဆိုထားတော်မူသည်။ ဤကဏ္ဍ၏ အကျဉ်းချုပ်သဘောမှာ
(၁) တမန်တော်များအား ယုံကြည်ထောက်ခံခြင်း။
(၂) ကိယာမတ်ကို ယုံကြည်ခြင်း။
(၃) တောင်ဟီးဒ်ကို ယုံကြည်ခြင်း။
(၄) အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ခြင်းများပင် ဖြစ်သည်။ ဤအကြောင်းများကိုပင် ဤအာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။ လင်းပြဦးအံ့၊ ဤအာယတ်တော်တွင် (بَلَاغٌ) ဟူသောပုဒ်၌ တမန်တော်များအား ယုံကြည်ရမည့် အကြောင်းကိုလည်းကောင်း၊ (لِيُنذَرُوا بِهِ) ၌ ကိယာမတ်အကြောင်းကို လည်းကောင်း၊ (لِيَعْلَمُوا) ၌ တောင်ဟီးဒ်အကြောင်းကို လည်းကောင်း၊ (لِيَذَّكَّرَ) ၌ ခဝပ်ကိုးကွယ်မှုကို လည်းကောင်း၊ အကျဉ်းအားဖြင့် မိန့်ဆိုထားတော်မူသည်မှာ သုခမိန်များအဖို့ အထင်အရှားပင် ဖြစ်ပေသတည်း။ ထာနဝီ။

**မှတ်ချက်။**

ဤအာယတ်တော်တွင် ဤကုရ်အာန်ကျမ်းမြတ်သည် စင်ကြယ်သန့်ရှင်း အပြစ်ကင်းသည့် ဉာဏ်ရှင်များ သတိတရားရကြရန်အတွက် ဖြစ်သည်ဟူ၍ မိန့်ဆိုထားတော်မူသည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် လူသား၏ ထူးကဲမြင့်မြတ်မှုများမှာ အသိဉာဏ်နှင့် ထိုသည့် အသိဉာဏ်ကို စနစ်တကျ အသုံးပြုမှုကြောင့်သာ ဖြစ်ကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။

## ကျောက်ဆောင် ကဏ္ဍ




ဤကဏ္ဍသည် 'စူရဟ်ဟစ်ဂျ်ရ်' ကျောက်ဆောင်ကဏ္ဍ မည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်(၉၉) ရှုကူအ်အပိုဒ်(၆) အသီးသီးပါရှိ၏။

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

အစဉ်မပြတ် သနားကြင်နာတော်မူထသော အနန္တကရုဏာတော်ရှင် ဖြစ်တော်မူထသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် (အစပြုပါ၏)။

الٓر ۚ تِلْكَ آيَاتُ الْكِتَابِ وَقُرْآنٍ مُّبِينٍ ①

၁။ အလစ်ဖ်၊ လာမ်၊ ရာ။

ဤ သည်ကား (အဘက်ဘက်မှ ပြည့်စုံသော) ကျမ်းဂန်ဓမ္မက္ခန်၏ အာယတ်တော်များသည်လည်းကောင်း၊ ထင်ရှားလှစွာသော ကုရ်အာန်ကျမ်းတော်မြတ်၏အာယတ်တော်များသည်လည်းကောင်း၊ ဖြစ်ပေသတည်း။[၁]

(၁) ဤကုရ်အာန်ကျမ်းမြတ်သည် အထူးထူးသော ဂုဏ်ထူးဝိသေသနှင့် ပြည့်စုံ၏။ ကျမ်းဂန်ပီသလှ၏။ ဤကျမ်းမြတ်နှင့် နှိုင်းယှဉ်ရန် အခြားကျမ်းတစ်စောင်မျှ မရှိပေ။

ဤကုရ်အာန်ကျမ်းမြတ်လာ ဒေသနာတော်များသည် မူအရလည်းကောင်း၊ အထောက်အထားအရလည်းကောင်း၊ တန်ခိုးပြာဋိဟာအရလည်းကောင်း၊ စာပေအသုံးအနှုန်းအရလည်းကောင်း၊ အဘက်ဘက်တွင် ပြည့်စုံလှ၏။ ထင်ရှားပြတ်သားလှ၏။ ဤသို့ ကုရ်အာန်ကျမ်းမြတ်၏ ဂုဏ်ပုဒ်များ ထုတ်ဖော်မိန့်ဆိုထားတော်မူခြင်းမှာ ကမ္ဘာလူသားတို့သည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို အထူးလေ့လာဆည်းပူး နာယူကျင့်မှုရန်ပင်ဖြစ်သတည်း။

ဒုတိယ ဂုဏ်တော်နှင့်အညီ မိမိ၏ကျေးဇူးတော်ဖြင့် တဖြည်းဖြည်း 'လောင်ဝါမဟ်' ကိုပင် 'မွတ်စ်မအင်န်နဟ်' ၏ အဖြစ်သို့ ရောက်ရှိစေတော်မူကြောင်း ညွှန်ကြားထားတော်မူသည်။ ဂုဏ်ထူးဝိသေသနှင့် ပြည့်စုံ၏။ ကျမ်းဂန်ပီသလှ၏။ ဤကျမ်းမြတ်နှင့် နှိုင်းယှဉ်ရန် အခြားကျမ်းတစ်စောင်မျှ မရှိပေ။

ဤကုရ်အာန်ကျမ်းမြတ်လာ ဒေသနာတော်များသည် မူအရလည်းကောင်း၊ အထောက်အထားအရလည်းကောင်း၊ တန်ခိုးပြာဋိဟာအရလည်းကောင်း၊ စာပေအသုံးအနှုန်းအရလည်းကောင်း၊ အဘက်ဘက်တွင် ပြည့်စုံလှ၏။ ထင်ရှားပြတ်သားလှ၏။ ဤသို့ ကုရ်အာန်ကျမ်းမြတ်၏ ဂုဏ်ပုဒ်များ ထုတ်ဖော်မိန့်ဆိုထားတော်မူခြင်းမှာ ကမ္ဘာလူသားတို့သည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို အထူးလေ့လာဆည်းပူး နာယူကျင့်မှုရန်ပင်ဖြစ်သတည်း။

رُبَمَا يَوَدُّ الَّذِينَ كَفَرُوا لَوْ كَانُوا مُسْلِمِينَ ۝٢

၂။ ကာဖိရ် သွေဖည်ငြင်းပယ်သောသူများသည် အကယ်၍သာဝင်းတို့သည် မွတ်စ်လင်မ်များဖြစ်ခဲ့ကြပါလျှင် ကောင်းလေစွတကားဟု အကြိမ်ကြိမ် အဖန်ဖန် အာသာဆန္ဒ ထားရှိကြကုန်အံ့။ ၁

(၁) ငါတို့သည် မွတ်စ်လင်မ်များ ဖြစ်ခဲ့ကြလျှင် ကောင်းစွဟု ကာဖိရ်များက တမ်းတကြမည်ဖြစ်ခြင်း။

အလ္လာဟ်အရှင်မြတ်၏ အလွန်ကြီးကဲမြင့်မြတ်လှသော ကုရ်အာန်ကျမ်းမြတ်နှင့် အစ္စလာမ်သာသနာကဲ့သို့သော ကျေးဇူးတော်များကိုပင် ကာဖိရ်များသည် တန်ဘိုးမထားခဲ့ကြပေ။ ကာဖိရ်များသည် တန်ဖိုးမထားခဲ့ကြသော်လည်း ၎င်းတို့ထံသို့ အချိန်တစ်ချိန် မုချ ဆိုက်ရောက်လာပေမည်။ ထိုအချိန်တွင် ထိုကာဖိရ်များသည် "သြော်-ငါတို့သည် မွတ်စ်လင်မ်များ ဖြစ်ခဲ့ကြပါလျှင် ကောင်းစွ" ဟု ဝမ်းနည်းကြေကွဲစွာ တမ်းတကြပေမည်။

ကာဖိရ်များ ယင်းကဲ့သို့ တမ်းတကြမည့်အချိန်ကား အဘယ်အချိန်နည်း၊ ဤတွင် အဆိုပြားလျက်ရှိပေသည်။ အီးဗ်နအလ်အရဗီ၏ ယူဆချက်အတိုင်း ထိုသည့်အချိန်မှာ သတ်မှတ်ထားသော အချိန်မဟုတ်၊ ခမ္မဒိဗ္ဗာန်ဖြစ်သည်ဟူ၍ပင် ကျွန်ုပ်တို့သည်လည်း ယူဆသင့်ကြပေသည်။ ဆိုလိုသည်ကား ဤပစ္စက္ခဘဲ့လည်းကောင်း၊ နောင်တမလွန်ဘဝ၌လည်းကောင်း၊ မွတ်စ်လင်မ်များအရေးသာပြီး ကာဖိရ်များ အရေးနိမ့်တိုင်းနိမ့်တိုင်း ကာဖိရ်များသည် ၎င်းတို့ မွတ်စ်လင်မ်များ မဖြစ်ခဲ့ကြရသည့်အတွက် ဝမ်းနည်းကြေကွဲကြပေမည်။ မွတ်စ်လင်မ်များဖြစ်ခဲ့ကြပါလျှင် ကောင်းလေစွဟု တမ်းတကြပေမည်။

(အစ္စလာမ်သမိုင်းတွင်) ကာဖိရ်များ ပထမဆုံးအကြိမ် ဝမ်းနည်းကြေကွဲခဲ့ရခြင်းမှာ ဗဒ်ရ်စစ်ပွဲပင်ဖြစ်သည်။ ထိုစစ်ပွဲတွင် လက်တစ်ဆုပ်မျှသာဖြစ်သော ဆင်းရဲနွမ်းပါးသော အားအင်ချည့်နဲ့သော မုဟာဂျစ်ရ်များ၊ တောင်သူများဖြစ်ကြသော အောက်စ်၊ ခဇ်ရဂျ်မျိုးနွယ်စုများသည် အလ္လာဟ်အရှင်မြတ်၏ အကူအညီဖြင့် အင်အားကြီးမားလှသော မျက်နှာကြီး ကုရိုက်ရှ်မျိုးနွယ်ဝင်တို့အား အပြတ်အသတ် အောင်နိုင်ခဲ့ကြသည်။ ဤသို့ မွတ်စ်လင်မ်တို့၏ အံ့မဆုံးသောအောင်မြင်မှုကို တွေ့မြင်ကြရသောအခါ ကာဖစ်ရ်များက- "ငါတို့သည် အစ္စလာမ်နှင့်ကင်းကွာကြရလေခြင်း၊ မွတ်စ်လင်မ်များ ဖြစ်ခဲ့ကြရလျှင် ကောင်းလေစွ" ဟု ဝမ်းနည်းကြေကွဲခဲ့ကြ၏။ တမ်းတခဲ့ကြ၏။ ထို့အတူ မွတ်စ်လင်မ်တို့ အရေးသာကြသည့် အချိန်တိုင်း အောင်နိုင်ကြသည့် အချိန်တိုင်းတွင် ကာဖိရ်များသည် ဤကဲ့သို့ ဝမ်းနည်းကြေကွဲခဲ့သည်သာ ဖြစ်၏။ တမ်းတခဲ့ကြသည်သာ ဖြစ်၏။

ကာဖိရ်များ အထူးကြေကွဲကြမည့်အချိန်မှာ သေအံ့ဆဲဆဲ အချိန်ဖြစ်သည်။ ကောင်းကင်တမန်များသည် အသက်နှုတ်ရန် မတ်တတ်ရပ်လျက်ရှိကြမည်၊ ကာဖိရ်များသည် ထိုအချိန်တွင် နောင်တမလွန်ဘဝ၏ အဖြစ်အပျက်အခြေအနေများကိုလည်း တွေ့မြင်နေကြရပေမည်။ ထိုအချိန်တွင် ကာဖိရ်များသည် ရင်ထုမနာဖြစ်ကြမည်၊ ကြေကွဲကြမည်၊ " သြော်-ငါတို့သည် အကယ်၍များ အစ္စလာမ်သာသနာကို လက်ခံနာယူမိခဲ့ကြပါက၊ သေပြီးနောက် ပြစ်ဒဏ်မှကင်းလွတ်နိုင်ကြမည်" ဟု မြည်တမ်းကြပေမည်။ ထိုထက်ပင် ကာဖိရ်များ အတိုင်းမသိ ကြေကွဲကြရမည့်အချိန်ကား ဂျဟန္နမ်တွင် ကာဖိရ်များကျန်ရစ်၍ အပြစ်ရှိသော မွတ်စ်လင်မ်များ လွတ်မြောက်သွားကြမည့် အချိန်ပင်ဖြစ်သည်။ ရိဝါယတ်ကျမ်းချက်များတွင် လာရှိသည်မှာ "ကိယာမတ်နေ့တွင် ငရဲသားများသည် ငရဲအတွင်းသို့ ရောက်ရှိကြအံ့။ ၎င်းတို့နှင့်အတူ အပြစ်ရှိသော အချို့မွတ်စလင်မ်များလည်း ငရဲတွင်းသို့ ရောက်ရှိလာကြအံ့။ ထိုအခါ ကာဖိရ်များက ငရဲအတွင်းသို့ ရောက်ရှိနေသော မွတ်စ်လင်မ်တို့အား- ➤➤

ذَرْهُمْ يَأْكُلُوا وَيَتَمَتَّعُوا وَيُلْهِهِمُ الْأَمَلُ فَسَوْفَ يَعْلَمُونَ ③

၃။ (အို-နဗီတမန်တော်)အသင်သည် ထို(ကာဖိရ် သွေဖည်ငြင်းပယ်သော)သူတို့အား(လက်ရှိအခြေအနေ အတိုင်း) စား(သောက်နေထိုင်)ကြရန်လည်းကောင်း၊ (လောကီစည်းစိမ်များ၌နစ်မွန်းကာ) အကျိုးခံစား လျက်ရှိကြရန်လည်းကောင်း၊ ထိုသူတို့၏မျှော်လင့်ချက် သည် ထိုသူတို့အား အာရုံလွှဲပြောင်းထားရှိရန်လည်း ကောင်း၊စွန့်လွှတ်၍ထားပါလေ။ မကြာမြင့်မီပင် ၎င်း တို့သည် (မိမိတို့၏ သွေဖည်ငြင်းပယ်မှု၏အကျိုးကို) သိရှိကြကုန်အံ့။ ၁

---

➤➤ အသင်တို့သည် မွတ်စ်လင်မ်များ မဟုတ်ကြလေသလောဟု မေးမြန်းကြကုန်အံ့။ မွတ်စ်လင်မ်များက မှန်ပါ။ ကျွန်ုပ်တို့သည် မွတ်စ်လင်မ်များ ဖြစ်ကြပါသည်ဟု ဖြေဆိုကြအံ့။ ကာဖိရ်များက အသင်တို့၏ အစ္စလာမ်သည် အသင်တို့အား အကျိုးမပြုလေသလော၊ ယခုမူအသင်တို့သည် ကျွန်ုပ်တို့နှင့်အတူ ငရဲအတွင်းသို့ ရောက်ရှိနေကြပြီ ဟု ပြစ်တင် ပြောဆိုနေကြအံ့။ မွတ်စ်လင်မ်များက-ကျွန်ုပ်တို့၌ အပြစ်များရှိသည် ထိုအပြစ်များကြောင့် ကျွန်ုပ်တို့ သည် ယခုကဲ့သို့ ပြစ်ဒဏ်ခတ်တော်မူခြင်းကို ခံကြရခြင်းဖြစ်သည်ဟု ဖြေဆိုကြအံ့။ နောက်ဆုံးတွင် ငရဲအတွင်းရှိ မွတ်စ်လင်မ်အားလုံးတို့အား အလ္လာဟ်အရှင်မြတ်သည် တစ်ယောက်မကျန် လွတ်မြောက်စေတော်မူမည် ဖြစ်သည်။ ထိုအခါ ငရဲတွင်ကျန်ရစ်နေခဲ့ကြသော ကာဖိရ်များက ဤအာယတ်တော်(၁၅း၂)တွင် လာရှိသည့်အတိုင်း "ငါတို့သည် မွတ်စ်လင်မ်များ ဖြစ်ခဲ့ကြရပါလျှင် ကောင်းစွ" ဟုကြေကွဲမြည်တမ်းကြမည် ဖြစ်သည်။

① တမန်တော်မြတ်သည် ကမ္ဘာ့အဝန်းအဖို့ ကရုဏာတရား ပွားများရန်အလို့ငှာ ပွင့်လာတော်မူခဲ့သော နောက်ဆုံးတမန်တော် ဖြစ်တော်မူသည်။ တမန်တော်မြတ်သည် တမန်တော်တပါးအနေနှင့် တာဝန်ရှိသည့်အလျောက် တရားဓမ္မဟောကြားတော်မူခဲ့၏။ ကရုဏာရှင်ဖြစ်သည့်အလျောက် လူသားအားလုံးတို့အား တရားရစေ လိုတော်မူခဲ့၏။ တရားဓမ္မ ဟောကြားတော်မူပါလျက် တရားမရသော ကာဖိရ်များအတွက်လည်း ပူပန်သောက ဖြစ်ရာတော်မူခဲ့၏။ ထို့အတွက် ဤအာယတ်တော်တွင် တမန်တော်မြတ်အား အလ္လာဟ်အရှင်မြတ်က "ခြောက်၍ တမျိုး၊ မြှောက်၍တဖုံ၊ အနည်းနည်းအဖုံဖုံ တရားဓမ္မဟောကြားပါလျက် တရားမရသော ကာဖိရ်များအဖို့ ပူပန်သောက ဖြစ်နေရန်မလို၊ ၎င်းတို့အား တိရစ္ဆာန်များပမာ ခေတ္တလွှတ်ထားပါ၊ ၎င်းတို့သည် လွတ်လွတ်လပ်လပ် စားသုံးနေကြပါစေ။

ဤမျက်မှောက်စည်းစိမ်များတွင် ခေတ္တနစ်မွန်းနေကြပါစေ၊ မျှော်လင့်ချက်ကြီးငယ်တို့သည် ၎င်းတို့အား ဖြားယောင်းထားပါစေ။ ၎င်းတို့သည် မကြာမီအတွင်း အကြောင်းသိသွားကြပါလိမ့်မည်။ ဤ မျက်မှောက်ဘဝ တွင်လည်း ၎င်းတို့သည် မုဂျာဟစ်ဒ်များနှင့်တွေ့ကြသည့်အခါ အကြောင်းသိသွား ကြပါလိမ့်မည်။ နောင်တမလွန်ဘဝ တွင်မူအကြောင်းစုံကို မျက်မြင်ကိုယ်တွေ့ပြည့်ပြည့်စုံစုံ သိရှိသွားပါလိမ့်မည်ဟု မိန့်ကြားထားတော်မူသည်။

وَمَآ اَهۡلَكۡنَا مِنۡ قَرۡيَةٍ اِلَّا وَلَهَا كِتَابٌ مَّعۡلُوۡمٌ ④

၄။ စင်စစ်ကား ငါအရှင်မြတ်သည် မည်သည့် မြို့ရွာကိုမျှ ထိုမြို့ရွာနှင့်စပ်လျဉ်း၍ သတ်မှတ် ပြဋ္ဌာန်းအပ်သော အချိန်ကာလ (ဆိုက်ရောက်ခြင်း) မရှိဘဲ *ဖျက်ဆီးတော်မူခဲ့သည် မဟုတ်ပေ။* [၁]

**(တစ်နည်း)**

ငါအရှင်မြတ် (ကုဖ်ရ်အတွက်ကြောင့်) ဖျက်ဆီး တော်မူခဲ့သမျှသောမြို့ရွာများနှင့်စပ်လျဉ်း၍ သတ်မှတ် ပြဋ္ဌာန်းပြီးဖြစ်သော အချိန်တချိန် ရှိခဲ့သည်သာ ဖြစ်သည်။ (ထာနဝီ)။

مَا تَسۡبِقُ مِنۡ اُمَّةٍ اَجَلَهَا وَمَا يَسۡتَاۡخِرُوۡنَ ⑤

၅။ မည်သည့်လူမျိုးမျှပင် မိမိတို့၏ (သတ်မှတ် ပြဋ္ဌာန်းပြီးဖြစ်သော) အချိန်ကာလထက်စော၍ သွား နိုင်ကြမည်လည်း မဟုတ်ပေ။ (ယင်းသတ်မှတ်ပြဋ္ဌာန်း အပ်သောအချိန်ကာလကို) *နောက်ချန်၍ နေနိုင်ကြ မည်လည်း မဟုတ်ချေ။* [၂]

---

(၁) အတိတ်ခေတ်များတွင် အချို့မြို့ရွာများနှင့် အမျိုးသားများသည် မိမိတို့၏ ပြစ်မှုများကြောင့် ကွပ်မျက် ဖျက်ဆီးခြင်း ခံခဲ့ကြရ၏။ ၎င်းတို့ ကွပ်မျက် ဖျက်ဆီးခြင်းခံကြရမည့် အချိန်ပိုင်းကိုလည်း အလ္လာဟ်အရှင်မြတ် သိရှိတော်မူပြီးဖြစ်၏။ ထိုအရှင်မြတ်၌ မေ့မှားမှု၊ သတိလစ်ဟင်းမှုဟူ၍ကား အလျှင်းမရှိ။ ထိုအရှင်မြတ် ထားရှိတော်မူသော ကတိတော်သည် ပျက်ပြားသည်ဟူ၍လည်း အလျင်းမရှိ။ လူမျိုးတစ်မျိုးအဖို့ သတ်မှတ်ထားသည့် အချိန်ပိုင်းစေ့၍ ပြစ်ဒဏ်သက်ရန် အချိန်ကျရောက်လာသောအခါ ထိုအမျိုးသားများသည် မလွဲဧကန် ပျက်စီးခြင်း ခံကြရ၏။ လက်ရှိကာဖိရ်များသည်လည်း ယခုကဲ့သို့ ပြစ်ဒဏ်မသင့်သေးဘဲ အချိန်ရနေသည့်အတွက် အယူအဆ မမှားသင့်ကြပေ။ မမောက်မာသင့်ကြပေ။ လက်ရှိကာဖိရ်များအဖို့ သတ်မှတ်ထားသည့် အချိန်ပိုင်းစေ့၍ ပြစ်ဒဏ်တော် သက်ရန် အချိန်ကျရောက်လာသောအခါ ၎င်းတို့သည်လည်း ထိုအရှင်မြတ်၏ ပြစ်ဒဏ်တော်မှ အလျင်း လွတ်မြောက်နိုင်ကြမည်မဟုတ်ပေ။ အားလုံး ကွပ်မျက်ဖျက်ဆီးခြင်း ခံကြရမည်သာဖြစ်သည်။

ယခုကဲ့သို့ ၎င်းတို့အား ခွင့်ပြုထားတော်မူခြင်းမှာ အကြောင်းမဲ့မဟုတ်၊ အကြောင်းအမျိုးမျိုးရှိသည်။ ဥပမာ-ယင်းကာဖိရ်များအနက်မှသော်လည်းကောင်း၊ ၎င်းတို့၏ သားမြေးတို့အနက်မှသော်လည်းကောင်း၊ အီမာန် ယုံကြည်ကြမည်ဖြစ်သည်။ ဤသည် ရေးမှတ်ထားပြီးဖြစ်သည်။ အကယ်၍သာ ယင်းကာဖိရ်တို့အား ရုတ်တရက် ချက်ချင်း ကွပ်မျက်တော်မူလိုက်ပါက အီမာန်ယူရန် အချိန်ရရှိနိုင်မည် မဟုတ်ပေ။ ထို့အတွက်လည်း အနည်းငယ် အချိန်ဆွဲထားတော်မူခြင်းဖြစ်သည်။

(၂) အမျိုးသားများ ပျက်စီးခြင်း၏အချိန်ကိုသာ သတ်မှတ်ထားတော်မူသည်မဟုတ်၊ လူမျိုးတိုင်း၏ ➢➢

وَقَالُوا يَٰٓأَيُّهَا ٱلَّذِي نُزِّلَ عَلَيْهِ ٱلذِّكْرُ إِنَّكَ لَمَجْنُونٌ ⑥

၆။ ၎င်းပြင် (အို-နဗီတမန်တော်) ထို (ကာဖိရ် သွေဖည်ငြင်းပယ်သော)သူတို့က (အသင့်အား) "အို-ဆုံးမသြဝါဒ (ကုရ်အာန်ကျမ်းတော်မြတ်) ချပေးသနားတော်မူခြင်းခံရသောသူ မဟုတ်။ ဧကန်စင်စစ် အသင်သည် အမှန်ပင် *စိတ်ဖောက်ပြန်သူဖြစ်သည်" ဟု ပြောဆိုခဲ့ကြသည်။* [၁]

لَّوْ مَا تَأْتِينَا بِٱلْمَلَٰٓئِكَةِ إِن كُنتَ مِنَ ٱلصَّٰدِقِينَ ⑦

၇။ အကယ်၍ အသင်သည် (သစ္စာဝါဒီ) မှန်ကန်စွာ ပြောဆိုသူဖြစ်ခဲ့ပါလျှင် အဘယ်ကြောင့် အသင်သည် "မလာအိကဟ်" ကောင်းကင်တမန်တော်များအား ကျွန်ုပ်တို့ထံ ခေါ်ဆောင်မလာသနည်း။

---

>> တိုးတက်မှု၊ ဆုတ်ယုတ်မှု၊ သေမှု၊ ရှင်မှုများအတွက်ကိုလည်း အချိန်သတ်မှတ်ထားတော်မူသည်။ သတ်မှတ်ထားတော်မူသည့်အချိန်တွင် တစက္ကန့်မျှ ရှေ့နောက်ကွာခြားမှု အလျင်းမဖြစ်နိုင်ပေ။ လူမျိုးများသည် တက်ချိန်တန်လျှင်တက်မည်။ ပျက်ချိန်တန်လျှင် ပျက်မည်။ ရှင်ချိန်တန်လျှင်ရှင်မည်။ သေချိန်တန်လျှင် သေမည်တည်း။

(၁) ( ذِكْر ) "ဇစ်က်ရ်" ဟူသောပုဒ်၏မူရင်းအဓိပ္ပာယ်မှာ ပြန်လည်သတိရစေခြင်း၊ သတိပေးခြင်း၊ ဆုံးမခြင်း၊ ဟူ၍ဖြစ်၏။ ကုရ်အာန်ကျမ်းမြတ်တွင် ယင်းပုဒ်ကို အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်ဟူသော အနက်၌ သုံးနှုန်းထားတော်မူ၏။ အတိတ်ခေတ်များတွင် သက်ဆိုင်ရာ တမန်တော်များထံသို့ ထုတ်ပြန်ချက် ချမှတ်တော်မူခဲ့သော ကျမ်းဂန်များသည်လည်း "ဇစ်က်ရ်" မည်၏။ ဤကုရ်အာန်ကျမ်းမြတ်သည်လည်း "ဇစ်က်ရ်" မည်၏။

ကြည့်-တဖ်ဟီမုလ်ကုရ်အာန်။

ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း တမန်တော်မြတ်အား ကာဖိရ်များက "အို-ဇစ်က်ရ် ပို့ချခြင်းခံရသော အကြင်သူ" ဟု ဆိုခြင်းမှာ ၎င်းတို့က တမန်တော်မြတ်အပေါ်သို့ ဇစ်က်ရ်ကျရောက်သည်ကို ယုံကြည်၍ ဆိုခြင်းမဟုတ်၊ ပြက်ရယ် ပြောင်လှောင်သည့်သဘောဖြင့် ပြောဆိုခြင်းသာ ဖြစ်သည်။ ကာဖိရ်များသည် တမန်တော်မြတ်ထံသို့ ဇစ်က်ရ်ကျရောက်ခဲ့သည်ကို အလျင်းလက်မခံ ခဲ့ကြပေ။ လက်ခံခဲ့ကြပါက ၎င်းတို့က တမန်တော်မြတ်အား အသို့လျှင် "မဂျ်နူန်"ဟု ဆိုခဲ့ကြအံ့နည်း။

အတိတ်ခေတ်များတွင်လည်း ကာဖိရ်များက တမန်တော်များအား "မဂျ်နူန်"၊ "ရှာအစ်ရ်"၊ "စာဟာစ်ရ်"၊ "ကာဟင်န်"၊ "မုအလ္လမ်"စသည်ဖြင့် မဟုတ်မမှန် လုပ်ကြံ၍ အမျိုးမျိုးစွပ်စွဲ ပြောဆိုခဲ့ကြပေသည်။

ကြည့်-ကုရ်အာန် (၂၆း၂၇။ ၃၇း၃၆။ ၄၄း၁၄။ ၅၁း၃၉။ ၅၁း၅၂။ ၅၄း၉။ ၆၈း၅၁)။

مَا نُنَزِّلُ الْمَلٰٓئِكَةَ اِلَّا بِالْحَقِّ وَمَا كَانُوْٓا اِذًا مُّنْظَرِيْنَ ۝٨

၈။ (စင်စစ်သော်ကား) ငါအရှင်မြတ်သည် တိကျမှန်ကန်သောစီရင်ဆုံးဖြတ်ချက် မရှိဘဲလျက် မလာအိကဟ် ကောင်းကင်တမန်များကို ချပေးတော်မူသည် မဟုတ်ပေ။ ထိုမှတပါးၸင်းတို့သည် ထို (ကောင်းကင်တမန်များ ရောက်ရှိလာကြသော)အခါ ဖွေ့ဆိုင်းခွင့် *ပေးသနားတော်မူခြင်းကို ခံရသူများလည်း ဖြစ်ကြမည် မဟုတ်ပေ။* [၁]

اِنَّا نَحْنُ نَزَّلْنَا الذِّكْرَ وَاِنَّا لَهٗ لَحٰفِظُوْنَ ۝٩

၉။ ဧကန်စင်စစ် ငါအရှင်မြတ်သည်ပင်လျှင်(ဤ)ဆုံးမဩဝါဒ(တည်းဟူသော ကုရ်အာန်ကျမ်းတော်မြတ်)ကို ချပေးသနားတော်မူခဲ့လေသည်။ ထိုမှတပါး ဧကန်မလွဲ ငါအရှင်မြတ်သည်ပင်လျှင် ယင်းဆုံးမဩဝါဒကို *ထိန်းသိမ်းစောင့်ရှောက်တော်မူမည့် အရှင်မြတ်လည်း ဖြစ်တော်မူပေသတည်း။* [၂]

---

(၁) မက္ကာမြို့သား ကာဖိရ်များသည် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို လှေ့လာခြင်း၊ စဉ်းစားဆင်ခြင်ခြင်း တစ်စုံတစ်ရာ အလျင်းမရှိဘဲ မလိုမုန်းတီးသည့်အတွက်သာ အတိတ်ခေတ် ကာဖိရ်များကဲ့သို့ အဓိပ္ပာယ်မရှိသော တောင်းဆိုချက်ကို တင်ပြတောင်းဆိုခဲ့ကြ၏။ (ဝါ) ယင်းကာဖိရ်များက–တမန်တော်မြတ်အား အသင်သည် တမန်တော်တစ်ပါးမှန်လျှင် ကျွန်ုပ်တို့ထံသို့ ကောင်းကင်တမန်များကို ခေါ်ဆောင်လာခဲ့ပါ။ ထိုကောင်းကင်တမန်များသည် အသင့်အား ထောက်ခံကြပါစေ၊ ကျွန်ုပ်တို့အားလည်း အသင့်ကို ထောက်ခံခိုင်းပါစေ။ သို့ပါလျက် ကျွန်ုပ်တို့က အသင့်အား မထောက်ခံဘဲနေလျှင် ထိုကောင်းကင် တမန်များသည် ကျွန်ုပ်တို့အား ချက်ချင်း ပြစ်ဒဏ်ခတ်ပါစေဟု ပြောဆိုခဲ့ကြလေသည်။ ဤကား အဓိပ္ပာယ်မရှိသော တောင်းဆိုချက်ပင်။

အမှန်မှာ– တရားနာလိုသူများအဖို့ ယခုလည်း သက်သေလက္ခဏာတော်များသည် လိုသည်ထက်ပင် ပို၍နေပေသည်။ တရားနာရန် စိတ်မျှပင် အလျင်းမရှိသောသူများမှာမူ ကောင်းကင်တမန်များ ရောက်ရှိလာကြသော်လည်း ယုံကြည်ကြမည် မဟုတ်ပေ။ တရားနာခံကြမည်လည်း မဟုတ်ပေ။ သို့ဖြစ်ရာ ကောင်းကင်တမန်များ ရောက်ရှိလာခြင်းဖြင့် အသို့လျှင် အကျိုးရှိနိုင်အံ့နည်း။

အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်တမန်များကို ကမ္ဘာမြေပြင်သို့ မှန်ကန်သောအကြောင်းရှိက စေလွှတ်တော်မူသည်။ အကြောင်းမဲ့စေလွှတ်တော်မမူ။ ယေဘုယျအားဖြင့် လူမျိုးတစ်မျိုးသည် အလွန်အကျွံ စည်းကမ်းကျူးလွန်လာသည့်အခါ မောက်မာပလွှားလာသောအခါ သွန်သင်ဆုံးမခြင်းနှင့် စပ်လျဉ်းသည့် အဆင့်များ အားလုံး ကုန်ဆုံးသည့်အခါ ဤသို့သော သူမိုက်များကို ကွပ်မျက်ဖျက်ဆီးတော်မူရန်အတွက် ထိုအရှင်မြတ်သည် ကောင်းကင်တမန်များကို စေလွှတ်တော်မူလေ့ရှိသည်။ယင်းသို့ ကောင်းကင်တမန်များ ရောက်လာသည့်အခါ ထိုသို့သောသူမိုက်များသည် ဖွေ့ဆိုင်းခွင့်အလျင်းမရရှိတော့ဘဲ လုံး၀ ကွပ်မျက်ဖျက်ဆီးခြင်း ခံကြရပေသည်၊ ➤➤

➤➤ ယခုလည်း ဤကာဖိရ်များ တောင်းဆိုကြသည့်အတိုင်း ကောင်းကင်တမန်များကို စေလွှတ်ပါက ဤရည်ရွယ်ချက်အတွက်သာ (ဝါ) ယင်းကာဖိရ်တို့အား ကွပ်မျက်ဖျက်ဆီးရန်အတွက်သာ စေလွှတ်ရန်ရှိသည်။ သို့ရာတွင် ယခုမူ ၎င်းတို့အား ကွပ်မျက်ရန် အချိန်မကျရောက်သေးပေ။ အဘယ်ကြောင့်ဆိုသော် ကောင်းကင်တမန်များအား စေလွှတ်ခြင်းသည် နောက်ဆုံးအဆင့်ပင် ဖြစ်သည်။ -မာဂျိဒီ။

② ကုရ်အာန်သည် ကမ္ဘာတသက်တည်မည်။

(ကာဖိရ်များက တမန်တော်မြတ်အား ပြက်ချော်သရော်ခဲ့ကြ၏။ တမန်တော်မြတ်အား စိတ်ဖောက်ပြန်သူဟူ၍ပင် မိုက်မဲစွာစွပ်စွဲခဲ့ကြ၏။ ယင်းသို့ပြက်ရယ် ပြုကြသော်လည်း၊ ယင်းသို့ စွပ်စွဲကြသော်လည်း ကုရ်အာန်ကျမ်းမြတ်၌သော်လည်းကောင်း၊ တမန်တော်မြတ်၌သော်လည်းကောင်း၊ မည်သို့မျှ ထိခိုက်နစ်နာမှု အလျင်းမရှိပေ။ အဘယ်ကြောင့်ဆိုသော် ထိုကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ပို့ချတော်မူသော အရှင်မြတ်မှာလည်း အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ထိုကျမ်းမြတ်ကို တာဝန်ယူ ထိန်းသိမ်းစောင့်ရှောက်တော်မူမည့် အရှင်မှာလည်း အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူ၏။)

ကုရ်အာန်ကျမ်းမြတ်ကို အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင် တာဝန်ယူ ထိန်းသိမ်းထားတော်မူသည့်အတွက်ကြောင့်ပင် ကုရ်အာန်ကျမ်းမြတ်သည် ကျရောက်လာခဲ့သည့်အတိုင်း ပုဒ်၊ ပါဒ၊ ဗျည်း၊ သရ၊ ဝတ်စပေါက်မှအစ စိုးစဉ်းမျှပင် အပြောင်းအလဲ အလျင်းမရှိပေ။ အက္ခရာများတွင် အပြောင်းအလဲမရှိသကဲ့သို့ အနက်အဓိပ္ပာယ်တွင်လည်း အလျင်းမရှိပေ။ ကုရ်အာန်ကျမ်းမြတ် ကျရောက်ခဲ့သည့်အချိန်မှ ယနေ့အထိ မူရင်းအတိုင်း တည်ရှိနေသကဲ့သို့ ပြောင်းလဲမှုအပေါင်းမှ ကင်းစင်ကာ မူရင်းအတိုင်း ကိယာမတ်တိုင် တည်ရှိမည်ပင်ဖြစ်သည်။

ခေတ်ကြီးသည် အဘယ်မျှပင်ပြောင်းလဲသွားလင့်ကစား ကုရ်အာန်ကျမ်းမြတ်၏မူများ၊ သဘောတရားများနှင့် အမိန့်ပညတ်တော်များသည် ဘယ်သောအခါ၌မျှ ပြောင်းလဲမည်မဟုတ်ပေ။ ဘာသာစာပေသည် အဘယ်မျှပင် တိုးတက်လာခဲ့လင့်ကစား၊ သိပ္ပံပညာများသည် အဘယ်မျှ တိုးတက်လာခဲ့လင့်ကစား ကုရ်အာန်ကျမ်းလာ ဒေသနာတော်များသည် တသမတ်တည်းပင် တည်လျက်ရှိပေမည်။ ကုရ်အာန်ကျမ်းမြတ်၏ စာပေအသုံးအနှုန်းတွင်လည်းကောင်း၊ အယူအဆတွင်လည်းကောင်း၊ ပြောင်းလဲမှု၊ ယုတ်လျော့မှုကို အလျင်းတွေ့ရှိရမည်မဟုတ်ပေ။ (သိပ္ပံပညာများ၊ လောက ဓာတ်ပညာများ တိုးတက်လာသည်နှင့်အမျှ ကုရ်အာန်ကျမ်းမြတ်၏ အယူအဆများ မှန်ကန်တည့်မတ်ကြောင်း ပို၍ပို၍ ထင်ရှားပေါ်လွင်လာမည်သာဖြစ်သည်)။

အချို့အစိုးရများနှင့် အချို့လူမျိုးများသည် ကုရ်အာန်ကျမ်းမြတ်ကို လုံးဝ ဖျောက်ဖျက်ပစ်ရန်ပင် ကြံစည်ကြိုးစားခဲ့ကြ၏။ သို့တစေလည်း ၎င်းတို့သည် ကုရ်အာန်ကျမ်းမြတ်မှ ဝတ်စပေါက် တစ်ခုကိုမျှပင် မဖျောက်ဖျက်နိုင်ခဲ့ကြပေ။ (နောင်ကိုလည်း ဘယ်သောအခါ၌မျှ ဖျောက်ဖျက်နိုင်ကြမည်မဟုတ်ပေ။)

(ကုရ်အာန်ကျမ်းမြတ်ကို ထိန်းသိမ်းစောင့်ရှောက်တော်မူရန်ပြုစုထားတော်မူသည့် အလ္လာဟ်အရှင်မြတ်၏ ကတိတော်သည် အံ့မဆုံးသောနည်းဖြင့် အတည်ဖြစ်လျက်ရှိသည်မှာ မျက်မြင် ကိုယ်တွေ့ပင်။

ကုရ်အာန်ကျမ်းမြတ်မူရင်းအတိုင်း တည်ရှိလျက်ရှိကြောင်းနှင့် စပ်လျဉ်း၍ အနောက်နိုင်ငံသား ဘာသာခြားပညာရှင်ကြီး အမြောက်အမြားတို့က ဝန်ခံရေးသားထားကြသည်ကို အများအပြား တွေ့ရှိရသည်။ ဥပမာ- (Mr. Muir)က "ကျွန်ုပ်တို့သိရှိကြရသမျှ ဤကမ္ဘာတွင် ကုရ်အာန်ကျမ်းကဲ့သို့ ၁၂-ရာစုတိုင်တိုင် ပြောင်းလဲမှုအမျိုးမျိုးတို့မှကင်းသော ကျမ်းစာ တစ်စောင်မျှမရှိပေ" ဟု ဝန်ခံရေးသားထားသည်။

ခေတ်တိုင်းခေတ်တိုင်းတွင် မြောက်မြားစွာသော "အာလင်မ်"များက ကုရ်အာန်ကျမ်းမြတ်၏ အနက်သဘောများနှင့် အတိုင်းမသိ အံ့ဖွယ်ရာများကိုလည်းကောင်း၊ "ကာတစ်ဗ်"များက ကုရ်အာန်ကျမ်းမြတ်၏ ➤➤

၁၀။ ထိုမှတပါး ဧကန်မလွဲ ငါအရှင်မြတ်သည် အသင်၏အလျင် ရှေးအုပ်စုများတွင်လည်း (နဗီ တမန်တော်များအား) စေလွှတ်တော်မူခဲ့လေသည်။

၁၁။ စင်စစ်သော်ကား ၎င်းတို့ထံ ရစူလ်တမန်တော် တစ်ပါးပါး ရောက်ရှိလာတိုင်း ၎င်းတို့သည် ထို ရစူလ်တမန်တော်အား ပြက်ရယ်သမှု ပြုလေ့ရှိခဲ့ကြ သည် သာတည်း။ ၁

وَلَقَدْ أَرْسَلْنَا مِن قَبْلِكَ فِي شِيَعِ الْأَوَّلِينَ ⑩ وَمَا يَأْتِيهِم مِّن رَّسُولٍ إِلَّا كَانُوا بِهِ يَسْتَهْزِئُونَ ⑪

---

➤➤ သတ်ပုံသတ်ညွှန်းများကိုလည်းကောင်း၊ "ကာရီ"များက ကုရ်အာန်ကျမ်းမြတ်၏ ရွတ်ဖတ်ပုံ ဌာန်ကရိုဏ်းကို လည်းကောင်း၊ "ဟာဖစ်"များက အက္ခရာများကိုလည်းကောင်း အသီးသီး အဘက်ဘက်မှ ထိန်းသိမ်း စောင့်ရှောက်ထားကြသည်။

အချို့ပညာရှင်များက ကုရ်အာန်ကျမ်းမြတ်၏ "ရကူအ်" အပိုဒ်များကို ရေတွက်ထားကြသည်။ အချို့က "အာယတ်" တော်များကို ရေတွက်ထားသည်။ အချို့က အက္ခရာဗျည်းများကို ရေတွက် ထားကြသည်။ အချို့ကမူ သရနှင့်ဝတ်စပေါက်များကိုပင် ရေတွက်ထားကြသည်။ ဤကား အံ့ဖွယ်ပင်။ အံ့မဆုံးပင်။

တမန်တော်မြတ်လက်ထက်တော်မှစ၍ ယနေ့ထက်တိုင် ခေတ်တိုင်းအချိန်တိုင်းတွင် ထောင်ပေါင်းများစွာ သော "ဟာဖစ်"များ ရှိခဲ့ကြသည်သာဖြစ်သည်။ (ကုဋေကုဋာများစွာသော မွတ်စ်လင်မ်တို့သည် ကုရ်အာန်ကျမ်းမြတ် ကို နေ့စဉ်နှင့်အမျှ ဆွလာတ်ဝတ်ပြုရာ၌လည်းကောင်း၊ ဆွလာတ်အပြင်၌လည်းကောင်း ရွတ်ဖတ် သရဇ္ဈာယ်ကြသည်။ ရမဇာန်လ၌ တရာဝီဟ်ဆွလာတ် ဝတ်ပြုရာတွင် ဟာဖစ်များက ကုရ်အာန်ကျမ်းမြတ်ကို အစမှအဆုံးတိုင် ရွတ်ဖတ် သရဇ္ဈာယ်ကြသည်။)

အံ့ဖွယ်တစ်ရပ်မှာ–ခုနစ်နှစ်၊ ရှစ်နှစ်အရွယ် ကလေးတစ်ယောက်သည် မိမိ၏ အမိဘာသာ စာပေဖြင့် ရေးသားထားသော စာနယ်ဇင်းနှစ်စောင်၊ သုံးစောင်ကို အာဂုံဆောင်ရန် ခဲယဉ်းသော်လည်း အရဗီဘာသာစာပေဖြင့် ထုတ်ပြန်ထားတော်မူသော ဆင်တူရိုးမှား အာယတ်တော်များ အမြောက်အမြားပါရှိသော ကုရ်အာန်ကျမ်းမြတ် တစ်စောင်လုံးလုံးကိုမူ လွယ်ကူစွာ အာဂုံဆောင်နိုင်ပေသည်။ အချိန်မရွေး "ကရား ရေလွှတ်" သွက်လက်စွာ ရွတ်ဖတ်နိုင်ပေသည်။ ဤသည်တို့ကား "ယင်းကျမ်းမြတ်ကို ငါအရှင်မြတ်ကိုယ်တော်တိုင် ထိန်းသိမ်း စောင့်ရှောက်တော်မူမည်ဖြစ်သည်" ဟူသော အာယတ်တော်လာကတိတော်၏ လက်တွေ့ အထောက်အထား များပင်။

① ဤအာယတ်တော်တွင် တမန်တော်မြတ်အား ကာဖိရ်များ၏ ပြက်ရယ်မှုကြောင့် စိတ်မပျက်ရန် နှစ်သိမ့်စကား မိန့်ကြားထားတော်မူသည်။ ကာဖိရ်များ၏ ပြက်ရယ်မှုသည် အထူးအဆန်းမဟုတ်ပေ။ ဤသည် ကမ္ဘာဦးအစမှ ကာဖိရ်တို့၏ အလေ့အကျင့်တစ်ရပ်ပင်ဖြစ်သည်။ အတိတ်ခေတ်များတွင် ပွင့်လေသမျှသော တမန်တော်အပေါင်းတို့ သည်လည်း ကာဖိရ်တို့၏ ပြက်ရယ်မှု၊ သွေးဖည်ငြင်းဆန် မနာခံမှုများကို အသီးသီး အသကအသက ခံခဲ့ကြရသည်သာဖြစ်သည်။ ကာဖိရ်များသည် တမန်တော်များအား တစ်ခါတစ်ရံ မဂျ်နွန်၊ ရှာအစ်ရ်၊ စါဟစ်ရ်၊ ကာဟင်န်–စသည်ဖြင့် စွပ်စွဲပြောဆိုလေ့ရှိခဲ့ကြသည်။ တစ်ခါတစ်ရံ တမင် စိတ်ဒုက္ခဖြစ်စေရန်အတွက် ➤➤

كَذٰلِكَ نَسۡلُكُهٗ فِيۡ قُلُوۡبِ الۡمُجۡرِمِيۡنَ ⑫

၁၂။ ဤနည်းအတိုင်းပင် ငါအရှင်မြတ်သည် ပြစ်မှုကျူးလွန်သောသူတို့၏ စိတ်နှလုံးများ၌ ယင်း ပြက်ရယ်သမှုပြုခြင်းကို သို့မဟုတ် ယင်းကုရ်အာန်ကို လမ်းဖွင့်၍ပေးတော်မူ၏။ (ထည့်သွင်းပေးတော်မူ၏)။

لَا يُؤۡمِنُوۡنَ بِهٖ وَقَدۡ خَلَتۡ سُنَّةُ الۡاَوَّلِيۡنَ ⑬

၁၃။ (သို့ဖြစ်ပေရာ) ထို(မယုံမကြည်သွေဖည် ငြင်း ပယ်သော)သူတို့သည် ယင်း(ကုရ်အာန်ကျမ်းမြတ်) ကို မယုံကြည်ကြချေ။ အမှန်စင်စစ်သော်ကား ရှေး သူဟောင်းတို့၏ အစဉ်အလာသည် လွန်လေပြီး ဖြစ်ပေသတည်း။ ၁

**(တစ်နည်း)**

ထို့အတွက်ကြောင့်ပင် ထိုသူများသည် ထို (ကုရ်အာန်ကျမ်းမြတ်)ကို ယုံကြည်သည်မဟုတ်ပေ။ ၎င်းပြင် ရှေးသူဟောင်းတို့၏ အစဉ်အလာသည်လည်း (ဤအတိုင်းပင်) ရှိလာခဲ့ပေသည်။ (ကြည့်-ထာနဝီ)

---

➤➤ အဓိပ္ပာယ်မရှိသော တောင်းဆိုချက်များကို တင်ပြတောင်းဆိုလေ့ရှိခဲ့ကြသည်။ ဖစ်ရ်အောင်န်သည်လည်း တမန်တော်မူစာအား စိတ်ဖောက်ပြန်သူဟု ဆိုခဲ့သည်။ ကြည့်-ကုရ်အာန် (၂၆း၂၇)။ ကုရိုက်ရှ်မျိုးနွယ်ဝင်များက တမန်တော်မြတ်အား ကောင်းကင်တမန်များကို ခေါ်ဆောင်လာရန် တောင်းဆိုကြသကဲ့သို့ အတိတ်ခေတ်တွင် ဖစ်ရ်အောင်န်ကလည်း တမန်တော်မူစာအား တောင်းဆိုခဲ့သည်။ ကြည့်-ကုရ်အာန် (၄၃း၅၃)

(၁) ပြက်ရယ် ပြောင်လှောင်ခြင်းသည် အဆိုးရွားဆုံးသော ငြင်းပယ်မှု၊ ဆန့်ကျင်မှုပင်ဖြစ်သည်။ ပြောင်လှောင် ပျက်ချော်သူများသည် မိမိတို့ ပြောင်လှောင်သောသူ၏ စကားကို စဉ်းစားဆင်ခြင်လိုသော စိတ်ပင်မရှိကြပေ။ စဉ်းစားဆင်ခြင်လိုစိတ် မရှိသောသူများသည် အမှန်တရားကို အလျင်းမရနိုင်ကြပေ။ အမှန်မှာ ပြက်ချော်ပြုသော သူများသည် တစ်နည်းအားဖြင့် ငါတို့သည် ဘယ်သောအခါ၌မျှ ပြက်ချော်ပြုခြင်းခံရသူ၏စကားကို လက်ခံကြမည် မဟုတ်ဟု ကြေညာနေခြင်းပင်ဖြစ်သည်။ ထိုသို့အမှန်တရားကို မလိုလားကြောင်း ကြေညာနေသည့်အတွက် ကြောင့်လည်း အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏စိတ်နှလုံးများတွင် ၎င်းတို့လိုလားကြသည့်အတိုင်း ထိုပြက်ချော် ပြောင်လှောင်မှုကိုပင် ထည့်သွင်းထားတော်မူလိုက်လေသည်။

မက္ကာမြို့သား ကာဖိရ်များသည် တမန်တော်မြတ်အား ပြက်ချော်ခဲ့ကြ၏။ သို့ပြက်ချော်ခဲ့ကြသည့် အတွက်လည်း အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏စိတ်တွင် ယင်းပြက်ချော်မှုကိုပင် ထည့်သွင်းထားတော်မူ၏။ သို့ဖြစ်ရာ ယင်းကာဖိရ်များသည် တမန်တော်မြတ် ယူဆောင်လာခဲ့သော ကုရ်အာန်ကျမ်းမြတ်ကို ယုံကြည်နိုင်ကြ တော့မည်မဟုတ်ပေ။ ➤➤

وَلَوْ فَتَحْنَا عَلَيْهِم بَابًا مِّنَ السَّمَاءِ فَظَلُّوا فِيهِ يَعْرُجُونَ ﴿١٤﴾

၁၄။ အကယ်၍ ငါအရှင်မြတ်သည် ၎င်းတို့အပေါ်ဝယ် မိုးကောင်းကင်၌ တံခါးပေါက်တစ်ခုခုကို ဖွင့်ပေးတော်မူခဲ့ပါလျှင် ထို့နောက် ၎င်းတို့သည် နေ့ကြောင်တောင်ပင် ထိုတံခါးပေါက်မှ (ဆင်း)တက် (သွားလာ)ခဲ့ကြသော်လည်း။

لَقَالُوا إِنَّمَا سُكِّرَتْ أَبْصَارُنَا بَلْ نَحْنُ قَوْمٌ مَّسْحُورُونَ ﴿١٥﴾

၁၅။ (ထိုသို့သောအခါမျိုး၌လည်း) ၎င်းတို့က ကျွန်ုပ်၏မျက်စိများသည်(လှည့်စား)ပိတ်ပင်ထားခြင်းကို ခံခဲ့ကြရပေသည်။ ထိုမျှမက ကျွန်ုပ်တို့သည် စုန်းပြုစားခြင်းကို ခံခဲ့ကြရသော လူစုပင် ဖြစ်ကြပေသည်ဟု ပြောဆိုကြမည်မှာ အမှန်ပင်။ [၁]

وَلَقَدْ جَعَلْنَا فِي السَّمَاءِ بُرُوجًا وَزَيَّنَّاهَا لِلنَّاظِرِينَ ﴿١٦﴾

၁၆။ ၎င်းပြင် ဧကန်မလွဲ ငါအရှင်မြတ်သည် မိုးကောင်းကင်၌*ဗုရူဂ်နက္ခတ်များကို* [၂] ပြုလုပ်(ဖန်ဆင်း)တော်မူ၍ ယင်းမိုးကိုကြည့်ရှုသူတို့အဖို့ မျက်စိပသာဒဖြစ်စေတော်မူခဲ့လေသည်။ [၃]

---

➤➤ ဤသည် အထူးအဆန်းမဟုတ် အစဉ်အလာတစ်ရပ်ပင်ဖြစ်သည်။ အတိတ်ခေတ်များတွင်လည်း အမှန်တရားကို ပြက်ချော်ပြောင်လှောင်သူများသည် ရှိခဲ့ကြသည်။ သို့ရာတွင် ပြက်ချော်ပြောင်လှောင်သောသူများသည် ကွပ်မျက်ခြင်း ခံကြရပြီး အမှန်တရားကို လိုက်နာကျင့်သုံးခဲ့ကြသော ပုဂ္ဂိုလ်များသည် အောင်နိုင်ခဲ့ကြသည်သာဖြစ်သည်။ ထို့အတွက် တမန်တော်မြတ်သည် ကာဖိရ်များ၏ ပြက်ရယ်မှု၊ ငြင်းပယ်မှုများကြောင့် စိတ်ပျက်တော်မူရန် မလိုပေ။

(၁) မက္ကာမြို့သား ကာဖိရ်များ၏ မလိုမုန်းတီးမှုကား ပြင်းထန်လှ၏။ အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်၏ တံခါးများကို ဖွင့်ပေးတော်မူခဲ့သည်ရှိသော် ယင်းကာဖိရ်များသည်လည်း မိမိတို့ကိုယ်တိုင် နေ့ခင်းကြောင်တောင် တက်ခဲ့ကြရသည်ရှိသော်၊ သို့တစေလည်း ထိုကာဖိရ်များသည် အမှန်တရားကို ယုံကြည်လက်ခံကြမည် မဟုတ်ပေ။ "ကျွန်ုပ်တို့သည် မျက်စိလှည့်စားခြင်း ခံကြရသည်။ ဤမျှမက ကျွန်ုပ်တို့သည် စုန်းပြုစားခြင်း ခံနေကြရပြီ" ဟူ၍ပင် ပြောဆိုငြင်းဆိုကြမည်သာဖြစ်သည်။ ဤကား မလိုမုန်းတီးမှု၊ ဇွတ်မိုက်ငြင်းမှု၏အကျိုးသာ ဖြစ်သည်။ "ကျားကျား မီးယပ်" ဆိုသကဲ့သို့ ဇွတ်မိုက်ငြင်းသူများအဖို့ ကြီးမားသော သက်သေလက္ခဏာတော်သည်ပင် အကျိုးမဲ့သာလျှင် ဖြစ်ရပေမည်။ ထို့အတွက်ကြောင့် တမန်တော်မြတ်သည် ယင်းကာဖိရ်တို့၏သွေဖည်မှုကြောင့် စိတ်ပျက်တော်မူရန် မလိုပေ။

(၂) "ဗုရ်ဂျ်"ဟူသည် အရဗီစာပေတွင် ခံတပ်၊ နန်းတော်နှင့်ခိုင်ခံ့သော အဆောက်အအုံများအတွက် အသုံးဖြစ်ချေသည်။ ရှေးဟောင်း (Astronomy) ကြယ်နက္ခတ်တာရာ အတတ်ပညာဝေါဟာရတွင် နေလှည့်ပတ် ➤➤

၁၇။ ထိုမှတပါး ငါအရှင်မြတ်သည် ယင်းမိုးကို နှင်ထုတ်ခြင်းခံရသောရှိုင်တွာန်မိစ္ဆာကောင် အသီးသီး တို့မှ ထိန်းသိမ်းစောင့်ရှောက်တော်မူသည်။ ^၁

وَحَفِظْنٰهَا مِنْ كُلِّ شَيْطٰنٍ رَّجِيْمٍ ﴿١٧﴾

---

➤➤ သွားရာစခန်း (ရာသီခွင် ရာသီစက်) ၁၂-ခုအတွက် အသုံးဖြစ်ချေသည်။ ဤသည်ကို အကြောင်းပြု၍ အချို့မှဖတ်စိစစ်ရှိများက ဤအာယတ်တော်တွင်ပါရှိသည့် "ဗုရ်ဂျ်" များမှာလည်း ယင်းစခန်းများကိုပင် ရည်ညွှန်းသည်ဟုဆိုကြသည်။ အချို့မှဖတ်စိစစ်ရှိများကမူ ဂြိုဟ်များဟုယူဆကြသည်။ သို့ရာတွင် ဤအာယတ်တော် နှင့် ဆက်စပ်လျက်ရှိသော အာယတ်တော် (၁၅း၁၇-၁၈) ၏ အနက်သဘောကို ထောက်ရှုပါက ဗုရ်ဂျ်များဟူသည် အထက်ကောင်းကင်ယံ၌ရှိသော အကြင်အကန့်များကိုလည်း ဆိုနိုင်သည်။ ထိုအကန့်များသည် အလွန်ခိုင်ခံ့သော နယ်နိမိတ်များဖြင့် တစ်ခုနှင့်တစ်ခု ခွဲခြားထားသည်။ ယင်းနယ်နိမိတ်များကို သာမန်စက္ခုများဖြင့် မမြင်နိုင်ပေ။ သို့တစေလည်း အကန့်တစ်ခုမှ အခြားအကန့်တစ်ခုသို့ ထိုးဖောက်၊ ကူးစက်၊ ဝင်ရောက်သွားရန် အလွန်ခဲယဉ်းပေ သည်။ ထို့အတွက် ဤအာယတ်တော်တွင်ပါရှိသည့် "ဗုရ်ဂျ်"များကို (Fortified Sphers) ကာကွယ် ထားသော အကန့်များဟူသောအနက်၌ ယူဆခြင်းကို ပိုမိုသင့်မြတ် မှန်ကန်သည်ဟု ကျွန်ုပ်တို့ယူဆကြသည်။ တဖ်ဟီမုလ်ကုရ်အာန်။

② အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်များကို ကြယ်တာရာများဖြင့် လှပတင့်တယ် ရှုချင်စဖွယ် ပြုလုပ်ထားတော်မူ၏။ မိုးတိမ်မိုးသားများ ကင်းစင်သောညဥ့်များတွင် နေထားကျနစွာ ဆင်ယင်ထားသော မရေမတွက်နိုင်သော ကြယ်တာရာများကို တွေ့မြင်ရပေသည်။ ကြယ်တာရာများကား ရှုမငြီး အံ့မဆုံးဖွယ်ပင်။ တွေးဆဆင်ခြင် မြော်မြင်သူများအဖို့ ကြယ်တာရာများဖြင့် ဆင်ယင်ထားသော ဤမိုးကောင်းကင်တွင် အလ္လာဟ် အရှင်မြတ်၏အနန္တတန်ခိုးတော်နှင့် ထိုအရှင်မြတ်တစ်ဆူတည်းရှိတော်မူကြောင်းနှင့် စပ်လျဉ်း၍ သက်သေလက္ခဏာ အမြောက်အမြား ရှိပေသည်။

ဆိုလိုသည်ကား လက်ခံနာယူလိုသူများအဖို့ မိုးကောင်းကင်မှ ကောင်းကင်တမန်များကို ဆင်းသက် စေရန်လည်းမလိုပေ။ ၎င်းတို့အား မိုးကောင်းကင်ထက်သို့ တက်စေရန်လည်း မလိုပေ။ မိုးကောင်းကင်နှင့်တကွ ကမ္ဘာမြေကြီး၌ အလ္လာဟ်အရှင်မြတ်တစ်ဆူတည်း ရှိတော်မူသည့်အကြောင်းနှင့်စပ်လျဉ်း၍ သက်သေလက္ခဏာ အမြောက်အမြား ရှိပေသည်။ အသိအလိမ္မာ ဉာဏ်အမြော်အမြင်နှင့် ပြည့်စုံသူတစ်ဦးသည် ယင်းသက်သေလက္ခဏာ တော်များကို ကြည့်ရှုဆင်ခြင်၍ "တောင်ဟီးဒ်"ကို အလွယ်တကူနားလည်နိုင်ပေသည်။ မက္ကာမြို့သား ကာဖိရ် များသည် ဤကဲ့သို့ ပေါ်လွင် ထင်ရှားသော သက်သေလက္ခဏာတော်များကို တွေ့မြင်နေကြရပါလျက် တစ်စုံတစ်ရာ အသိတရား မရရှိကြလျှင် ၎င်းတို့သည် နောက်နောင်တွင်လည်း အသိတရားအသို့လျှင် ရရှိနိုင်ကြမည်နည်း။

① ကျွန်ုပ်တို့ လူသားများ၏ ဤကမ္ဘာတွင် လူသားများနှင့် အခြားသတ္တဝါများ နေထိုင်လျက်ရှိသကဲ့သို့ ဂျင်န်ရှိုင်တွာန်များသည်လည်း ဤကမ္ဘာ၌ပင် နေထိုင်လျက်ရှိကြပေသည်။ လူသားများနှင့်အခြားသတ္တဝါများသည် ၎င်းတို့အဖို့ သတ်မှတ်ပိုင်းခြားထားသည့် အကန့်တွင် ချုပ်နှောင်လျက်ရှိသကဲ့သို့ ဂျင်ရှိုင်တွာန်များသည်လည်း ယင်းသည့်အကန့်တွင်ပင် ချုပ်နှောင်လျက် ရှိကြပေသည်။ ရှိုင်တွာန်များသည် ယင်းသည့်အကန့်ကို ကျော်လွန်၍ အထက်ကမ္ဘာသို့ အလျင်းပေါက်ရောက်နိုင်ကြသည် မဟုတ်ပေ။ 

إِلَّا مَنِ اسْتَرَقَ السَّمْعَ فَأَتْبَعَهُ شِهَابٌ مُّبِينٌ ⑱

၁၈။ သို့ရာတွင် အကြင် ရှိုင်တွာန်မိစ္ဆာကောင် (တစ်ဦးဦး)သည် *တိတ်တဆိတ်(စကားကို)နားထောင်ခဲ့ပါလျှင်* [၁] (ခိုးဝှက်နားထောင်ခဲ့ပါလျှင်) လင်းဝင်းသော မီးတောက်မီးလျှံသည် ၎င်း၏ နောက်သို့ (ထက်ကြပ်မကွာ) လိုက်လေတော့သတည်း။ [၂]

---

⮞⮞ လူသာမန်တို့၏ ထင်မှားချက်တစ်ရပ်မှာ ရှိုင်တွာန်နှင့်၎င်း၏ နောက်ပါများသည် ဤစကြာဝဠာကြီးတစ်ခုလုံးတွင် သွားလိုရာသို့ သွားလာနိုင်ကြသည်ဟူ၍ ယခင်ကလည်း ထင်မှတ်ခဲ့ကြ၏။ ယခုလည်း ထင်မှတ်လျက် ရှိကြ၏။ ဤသည့် ထင်မှားချက်ကို ပယ်ဖျက်တော်မူရန်အလို့ငှာ ရှိုင်တွာန်များသည် ၎င်းတို့အဖို့ သတ်မှတ်ထားသည့် အကန့်မှ ရှေ့သို့ခြေတစ်လှမ်းမျှ မကျော်လွန် နိုင်ကြောင်း ၎င်းတို့အား အကန့်အသတ်မရှိ သွားလိုရာသွားနိုင်ခွင့် ပြုထားခြင်း မဟုတ်ကြောင်းကို ဤအာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။

တဖ်ဟီမုလ်ကုရ်အာန်။

(၁) ရှိုင်တွာန်များသည် မိမိတို့၏ မိတ်ဆွေများအတွက် "ဃိုက်ဗ်" မျက်ကွယ်မှသတင်းများကို ရယူရန် ကြိုးစားကြသည်။ ဤသည့် ရှိုင်တွာန်များ၏ စကားများကို အကြောင်းပြု၍ များစွာသော ကာဟင်န်၊ ဂျိုဂီ၊ အာမစ်လ်နှင့်ဖကီရ် အယောင်ဆောင်များသည် ဃိုက်ဗ်ကို သိကြသည်ဟု ဝါကြွားကြသည်။ အမှန်မှာ ၎င်းတို့သည် ဃိုက်ဗ်သိရန်ဝေးစွ၊ ၎င်းတို့၏ အာစရိယ ရှိုင်တွာန်များ၌ပင် ဃိုက်ဗ်ကိုသိနိုင်ရန် အကြောင်းတစ်စုံတစ်ရာ မရှိပေ။ လူသားတို့နှင့်စာလျှင် ရှိုင်တွာန်များသည် ပုံပန်းသဏ္ဌာန်တွင် ကောင်းကင်တမန်များနှင့် အနည်းငယ်နီးစပ်ကြသည့်အတွက် ၎င်းတို့သည် ကောင်းကင်တမန်များ၏ စကားများကို ခိုးဝှက်နားထောင်ကြရန် ကြိုးစားကြပေသည်။ သို့တစေလည်း ၎င်းတို့၏အကျိုးမရှိပေ။

တဖ်ဟီမုလ်ကုရ်အာန်။ အ-၂။ စ-၅၀၁။ အအ-၁၁။

(၂) ရှိုင်တွာန်များသည် ကောင်းကင်ဘုံများတွင် တစ်စုံတစ်ရာ ဝင်ရောက်စွက်ဖက် ခြယ်လှယ်နိုင်ကြသည်မရှိပေ။ တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ပွင့်တော်မူသည့် အချိန်မှစ၍ ၎င်းတို့သည် အထက်ကောင်းကင်ဘုံများသို့ သွားခွင့်အလျင်း မရရှိကြတော့ပေ။ ယခုမူ ယင်းရှိုင်တွာန်များသည် မိုးကောင်းကင်အနီးသို့ တက်ရောက်ပြီး ကောင်းကင်တမန်များနှင့် နီးကပ်၍ "ဃိုက်ဗ်" မျက်ကွယ်သတင်းများကိုယူရန် ကြိုးစားကြသည်။ ထို့အတွက် ယင်းရှိုင်တွာန်များ မတက်ရောက်နိုင်ရန် ကောင်းကင်တမန်များကို အစောင့်အရှောက် ချထားတော်မူသည်။ ရှိုင်တွာန်များ အထက်ကောင်းကင်ရံသို့ တက်ရန်ကြိုးစားကြသည့်အခါ ကောင်းကင်တမန်များသည် ၎င်းတို့အား မီးတောက်မီးလျှံများဖြင့် ပစ်ခတ်ကြလေသည်။

ကုရ်အာန်ကျမ်းလာ အာယတ်တော်များနှင့် ဟဒီးဆ်သြဝါဒတော်များကို ထောက်ရှုခြင်းအားဖြင့် သိရှိအပ်သည့်အချက်တစ်ရပ်မှာ (စကြာဝဠာ ဖန်ဆင်းမှုများ) နှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်သည် တစ်စုံတစ်ရာ ဆုံးဖြတ်တော်မူသည့်အခါ ထိုအဆုံးအဖြတ်နှင့်စပ်လျဉ်း၍ ကောင်းကင်တမန်များထံသို့ ဝဟီပို့ချတော်မူ၏။ ထိုဆုံးဖြတ်ချက်သည် အထက်မှအောက်သို့ အဆင့်ဆင့်ရောက်ရှိလာပြီး နောက်ဆုံးတွင် ဤပထဝီမြေကြီး၏ မိုးကောင်းကင်သို့ပင် ရောက်ရှိလာသည်။

ဗိုခါရီကျမ်းချက်အရ မိုးတိမ်တွင် ကောင်းကင်တမန်များသည် အဆိုပါဆုံးဖြတ်ချက်ကို အချင်းချင်း⮞⮞

➤➤ ပြောဆိုကြသည်။ ထိုအခါ ရှိုင်တွာန်များသည် ကောင်းကင်တမန်များနှင့် နီးကပ်၍ အကွယ်၌ရှိသော သတင်းများကို ရယူရန်ကြိုးပမ်းကြသည်။ ရှိုင်တွာန်များ၏ပြုမူချက်သည် ယခုအခါ ကြိုးမဲ့ကြေးနန်း၊ စကားပြော ကြေးနန်းများဖြင့် စကားပြောဆိုနေကြခိုက်စပ်ကြားမှ ဖြတ်တောက်၍ ခိုးဝှက်နားထောင်ခြင်းနှင့်တူသည်။ ကောင်းကင်တမန်များထံသို့ အလ္လာဟ်အရှင်မြတ်အထံတော်မှ ပို့သသောသတင်းများကို ရှိုင်တွာန်များသည် စပ်ကြားမှ ခိုးဝှက်နားထောင်ခြင်းဖြစ်ပေသည်။ ထိုအခါကောင်းကင်တမန်များသည် မီးတောက်မီးလျှံများဖြင့် ပစ်ခတ်ကြလေသည်။

ယင်းသို့ပစ်ခတ်ကြသည့်စပ်ကြားမှပင် ရှိုင်တွာန်များသည် စကားတစ်ခွန်းတပါဒ၊ တစ်စွန်းတစ်စ ရရှိသွားကြလျှင် ၎င်းတို့သည် မိမိတို့ မပျက်စီးမီအလျင် ဆောလျင်စွာ အခြားရှိုင်တွာန်များထံသို့ လည်းကောင်း၊ ထိုရှိုင်တွာန်များထံမှတစ်ဆင့် ၎င်းတို့၏မိတ်ဆွေများဖြစ်သော လူသားများထံသို့ ပေးပို့ဖြန့်ချိကြသည်။

ဗေဒင်ဆရာများသည် ယင်းရှိုင်တွာန်များထံမှ ရရှိသော တစ်စွန်းတစ်စ စကားတွင် မိမိတို့ဘက်မှ အများပေါင်း သောင်းခြောက်ထောင်ကိုရော၍ လူသာမန်တို့အား မျက်ကွယ်သတင်းများအဖြစ် ပြောကြားကြလေသည်။ ယင်းစကားများအနက် “ကြက်ကန်းဆန်အိုးတိုး” ဆိုသကဲ့သို့ တစ်ခွန်းတပါဒ မှန်ကန်သွားလျှင် ထိုဗေဒင်ဆရာများအား ကြည်ညိုသူများသည် ယင်းဗေဒင်ဆရာများ၏ မှန်ကန်ကြောင်းနှင့်စပ်လျဉ်း၍ ထိုစကားရပ်ကိုပင် သက်သေသာဓကအဖြစ် တင်ပြကြသည်။ အခြားမှားယွင်းနေသည့် စကားများကိုမူ လျစ်လျူပြုထားကြသည်။

ဤအကြောင်းနှင့်ပတ်သက်၍ ကုရ်အာန်ကျမ်းလာ အာယတ်တော်များနှင့် ဟဒီးဆ်ဩဝါဒတော်များကို ထောက်ရှုခြင်းအားဖြင့် ကောင်းကင်ဘုံ၏ စကားရပ်များသည် အမှန်ချည်းသာဖြစ်၍ ဂျင်န်ရှိုင်တွာန်နှင့် လူရှိုင်တွာန်တို့၏ စကားများသည် လုပ်ကြံဖန်တီးထားသော စကားမှားများချည်းသာဖြစ်ကြောင်း၊ ထို့ပြင်တဝ ကောင်းကင်ဘုံများ၏ စီမံအုပ်ချုပ်မှုများသည် အလွန်ပြည့်စုံကြောင်း ရှိုင်တွာန်များသည် ကောင်းကင်ဘုံ၌ ခြေမှုမချနိုင်ကြောင်းများကို ကောင်းစွာသိရှိရပေသည်။

ရှိုင်တွာန်များသည် အစွမ်းရှိသမျှ ကြိုးစားကြသော်လည်း ကောင်းကင်ဘုံ၏ အစီအစဉ်များနှင့် အဆုံးအဖြတ်များကို ခိုင်လုံပိုင်နိုင်စွာ အလျင်းမရရှိကြပေ။ ယင်းရှိုင်တွာန်များသည် ကောင်းကင်တမန်များမှတဆင့် စကားတစ်ခွန်းတပါဒ ရရှိသွားကြလျှင် ယင်းသို့ စကားတစ်ခွန်းတပါဒ ရရှိသွားကြသည်ကို အလ္လာဟ်အရှင်မြတ်သည် မိမိ “ဟစ်က်မတ်”တော်အရ လုံးဝပိတ်ပင်ရန် ဆန္ဒတော်မရှိချေ။ ဆန္ဒတော်ရှိပါက လုံးဝပိတ်ပင်တော်မူနိုင်သည်။

စဉ်းစားဆင်ခြင်အပ်သည့်အချက်တစ်ရပ်မှာ လူရှိုင်တွာန်များနှင့် ဂျင်န်ရှိုင်တွာန်များသည် သူတပါးတို့အား အမှောက်မှောက် အမှားမှား လမ်းလွဲမှားစေခြင်းအပြုအမူမှ မည်သည့်အခါ၌မျှ နောင်တရရှိကြမည် မဟုတ်သည်ကို အလ္လာဟ်အရှင်မြတ်သည် သိတော်မူပြီးပင်ဖြစ်သည်။ သို့ပါလျက် ထိုအရှင်မြတ်သည် ၎င်းတို့အား ရှည်လျားသောအချိန်ကိုလည်း ပေးထားတော်မူသည်။ သူတပါးတို့အား လမ်းလွဲမှားနိုင်စေသည့် အကြောင်းတရားများကိုလည်း အသုံးပြုနိုင်စွမ်း ပေးထားတော်မူသည်။ ဤသို့ ခွင့်ပြုထားတော်မူခြင်း၌ တစ်နည်းမဟုတ်တစ်နည်း “ဟစ်က်မတ်” အကျိုးတစ်ရပ်ရှိသည်ကို အားလုံးလက်ခံကြရသည်။

ထိုအတိုင်းပင် ရှိုင်တွာန်များအား ယင်းသို့ ခွင့်ပြုထားတော်မူခြင်း၌လည်း ‘ဟစ်က်မတ်’ အကျိုးတစ်ရပ် မုချရှိသည်ကို ယုံကြည်ရမည်သာဖြစ်သည်။

وَالْأَرْضَ مَدَدْنٰهَا وَاَلْقَيْنَا فِيْهَا رَوَاسِيَ وَاَنْۢبَتْنَا فِيْهَا مِنْ كُلِّ شَيْءٍ مَّوْزُوْنٍ ⑲

၁၉။ ၎င်းပြင် ငါအရှင်မြတ်သည် ပထဝီမြေကို ဖြန့်ခင်းတော်မူ၍ ယင်းပထဝီမြေ၌ လေးလံသော တောင်ကြီးများကိုချထားတော်မူလေသည်။ ထိုမှတပါး ငါအရှင်မြတ်သည် ယင်းပထဝီမြေ၌ ခန့်မှန်း (သတ်မှတ်)ပြီးဖြစ်သော အရာဝတ္ထုတိုင်းကို ပေါက်ရောက်ဖြစ်ထွန်းစေတော်မူခဲ့လေသည်။ [၁]

وَجَعَلْنَا لَكُمْ فِيْهَا مَعَايِشَ وَمَنْ لَّسْتُمْ لَهٗ بِرٰزِقِيْنَ ⑳

၂၀။ ထိုမှတပါး ငါအရှင်မြတ်သည် ထိုပထဝီမြေ၌အသင်တို့အဖို့လည်းကောင်း၊ အသင်တို့စားနပ်ရိက္ခာ ထောက်ပံ့ခြင်း မပြုသော သူတို့အဖို့လည်းကောင်း၊ အသက်မွေးဝမ်းကျောင်းမှုများကို ပြုလုပ် (စီမံ) ထားတော်မူခဲ့လေသတည်း။ [၂]

وَاِنْ مِّنْ شَيْءٍ اِلَّا عِنْدَنَا خَزَآئِنُهٗ وَمَا نُنَزِّلُهٗۤ اِلَّا بِقَدَرٍ مَّعْلُوْمٍ ㉑

၂၁။ စင်စစ်သော်ကား မည်သည့်အရာမျိုးမဆို ငါအရှင်မြတ်အထံတော်၌ ထိုအရာဝတ္ထု၏အစုအပုံများ (ဘဏ္ဍာတော်များ)သည် (အပြည့်)ရှိပေသည်။ သို့ရာတွင် ငါအရှင်မြတ်သည် ထိုအရာဝတ္ထုကို သတ်မှတ်ထားသော အတိုင်းအတာအချိန်အဆနှင့်အညီသာလျှင် ချပေးတော်မူပေသတည်း။ [၃]

---

(၁) ပထဝီမြေကြီးကို ဖန်ဆင်းခြင်း၊ ဖြန့်ခင်းခြင်း၊ ထိုမြေကြီးပေါ်၌ လေးလံသောတောင်ကြီးများကို တည်ထားခြင်း၊ ထိုမြေကြီးတွင် စားဖွယ်သောက်ဖွယ်များကို သတ်မှတ်ထားသည့် အတိုင်းအဆနှင့်အညီ ပေါက်ရောက်စေခြင်းများသည် တစ်ဆူတည်းဖြစ်တော်မူသော အနန္တတန်ခိုးရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏အလုပ်သာလျှင် ဖြစ်ချေသည်။ ထိုသည့်အရာခပ်သိမ်း တို့သည် အလိုအလျောက် ဖြစ်ပေါ်လာခဲ့သည်လည်းမဟုတ်။ အလ္လာဟ်အရှင်မြတ်မှတပါး အခြားမည်သူ တစ်ဦးတစ်ယောက်ကမျှ ပြုလုပ်ဖန်ဆင်းထားသည်လည်း မဟုတ်ပေ။

(၂) အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာမြေကြီး၌ လူသားတို့အဖို့သာလျှင် အသက်မွေး ဝမ်းကျောင်းမှုများကို ပြုလုပ်ထားတော်မူသည်မဟုတ်။ လူသားတို့အား အကြောင်းပြုလျက်ရှိသော သတ္တဝါများနှင့်လူသားတို့အား အကြောင်းမပြုသော သတ္တဝါများအဖို့လည်း ထိုအရှင်မြတ်သည် အသက်မွေးဝမ်းကျောင်းမှုများကို ပြုလုပ်ထားတော်မူသည်။ အမှန်မှာ အလ္လာဟ်အရှင်မြတ်သည် ( رَبِّ الْعٰلَمِيْنَ ) စကြာဝဠာအဝှမ်းကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်ဖြစ်သည်။ ( وَمَا مِنْ دَآبَّةٍ فِي الْاَرْضِ اِلَّا عَلَى اللّٰهِ رِزْقُهَا ) "ပထဝီမြေ၌ ရှိရှိသမျှသော သတ္တဝါအပေါင်းတို့အား ကျွေးမွေးရန်တာဝန်မှာ အလ္လာဟ်အရှင်မြတ်၏ တာဝန်သာဖြစ်သည်" အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကား ကြီးမားလှပါဘိတကား။

وَأَرْسَلْنَا الرِّيٰحَ لَوٰقِحَ فَأَنْزَلْنَا مِنَ السَّمَاءِ مَاءً فَأَسْقَيْنٰكُمُوهُ وَمَا أَنْتُمْ لَهُ بِخٰزِنِينَ ﴿٢٢﴾

၂၂။ ၎င်းပြင် ငါအရှင်မြတ်သည် လေများကို ရေထမ်းလျက် စေလွှတ်တော်မူခဲ့လေသည်။ တဖန် ငါအရှင်မြတ်သည် မိုးကောင်းကင်မှရေကို ရွာသွန်းစေတော်မူခဲ့လေသည်။ ထို့နောက် ငါအရှင်မြတ်သည် အသင်တို့အား ထိုရေကိုတိုက်ကျွေးတော်မူခဲ့လေသည်။ စင်စစ်သော်ကား အသင်တို့သည် ထိုရေကို စုဆောင်းသိုလှောင်နိုင်ကြသောသူများ မဟုတ်ကြချေ။ ၁

وَإِنَّا لَنَحْنُ نُحْيِۦ وَنُمِيتُ وَنَحْنُ الْوٰرِثُونَ ﴿٢٣﴾

၂၃။ ထိုမှတပါး ဧကန်မလွဲ ငါအရှင်မြတ်သည်ပင် လျှင် ရှင်စေတော်မူ၏။ ထိုနည်းတူစွာ ငါအရှင်မြတ်သည်ပင်လျှင်သေစေတော်မူ၏။ ၎င်းအပြင် ငါအရှင်မြတ်သည်ပင်လျှင် အမွေစား အမွေခံ ဖြစ်တော်မူ၏။ (ကျန်ရစ်တော်မူမည့်အရှင် ဖြစ်တော်မူ၏။) ၂

---

(၃) အလ္လာဟ်အရှင်မြတ်အထံတော်၌ တစ်စုံတစ်ရာနည်းသည်၊ မရှိသည်ဟူ၍ အလျင်းမရှိ။ ထိုအရှင်မြတ်သည် အလိုရှိတော်မူသောအရာကို အလိုတော်ရှိသမျှ အပိုအလိုမရှိ ဖန်ဆင်းတော်မူ၏။ ယင်းသို့ ဖန်ဆင်းတော်မူသည့်အတွက် ထိုအရှင်မြတ်၌ မောပန်းသည်ဟူ၍လည်း အလျင်းမရှိ။ ရည်စူးတော်မူရုံမျှဖြင့် အလိုရှိတော်မူသောအရာသည် မဆိုင်းမတွဖြစ်ပေါ်လာ၏။ ဆိုလိုသည်ကား အရာခပ်သိမ်းကုန်တို့၏ ဘဏ္ဍာများသည် ထိုအရှင်မြတ်၏ အနန္တတန်ခိုးတော်ပင် ဖြစ်ပေသည်။ ထိုအရှင်မြတ်သည် မိမိ၏ အနန္တတန်ခိုးတော်ဖြင့် အလိုတော် ရှိသမျှကို မိမိ သတ်မှတ်ထားတော် မူသည့် အတိုင်းအတာ၊ အချိန်အဆနှင့် အညီ အပို အလိုမရှိ ချပေးတော်မူသည်ဟူလို။

(၁) အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ဖြင့် လေများသည် မိုးသားများကို လိုရာသို့တိုက်ခတ် သယ်ယူပို့ဆောင်လျက်ရှိသည်။ ထိုမိုးသားများမှ ရွာချသောမိုးရေများဖြင့် ချောင်း၊ မြောင်း၊ အင်း၊ အိုင်၊ ရေကန်များဖြစ်ပေါ်လာပြီး သတ္တဝါအပေါင်းတို့အား အကျိုးပြုလျက်ရှိ၏။ သတ္တဝါအပေါင်းတို့သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကြောင့် ကြည်လင်ချိုမြသော သီတာရေကြည်ကို ဖောသီစွာ သောက်သုံးလျက် ရှိကြပေသည်။
ကြည့်-ကုရ်အာန် (၅၆:၆၈-၇၀) (၁၆:၁၀-၁၁)။

အမှန်မှာ လူသားတို့သည် မိမိတို့၏အစွမ်းဖြင့် မိုးသားများကို လိုရာသယ်ယူ ပို့ဆောင်နိုင်ကြသည်လည်းမဟုတ်။ မိုးရေကို ရွာသွန်းချနိုင်ကြသည်လည်း မဟုတ်။ ထိုမိုးရေများကို မိမိတို့အစွမ်းဖြင့် စုဆောင်းသိုလှောင်ထားနိုင်ကြသည်လည်းမဟုတ်၊ ရွာသွန်းချသော မိုးကိုတားဆီးနိုင်ကြသည်လည်းမဟုတ်။ မပြောကောင်း မဆိုအပ် အကယ်၍များ မိုးရေများသည် ကမ္ဘာမြေပြင်သို့ ပြန်မကျဘဲအထက်သို့ လွင့်စဉ်သွားသော်၊ မြေတွင်ရေများတင်ရှိမနေဘဲ အောက်သို့ စိမ့်ဝင်သွားသော်၊ လူသားတို့သည်အသို့လျှင် ရေရှိရန် ပြုစွမ်းနိုင်ကြအံ့နည်း။ မည်သို့မျှ မပြုစွမ်းနိုင်ကြပေ။ ဤသည်အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင်။

وَلَقَدْ عَلِمْنَا الْمُسْتَقْدِمِيْنَ مِنْكُمْ وَلَقَدْ عَلِمْنَا الْمُسْتَأْخِرِيْنَ ﴿٢٤﴾

၂၄။ ထို့ပြင် မုချစင်စစ် ငါအရှင်မြတ်သည် အသင်တို့အနက်မှ ရှေးလူဟောင်းတို့ကိုလည်း ကောင်းစွာ သိတော်မူပြီးဖြစ်လေသည်။ ထိုနည်းတူစွာ မုချစင်စစ် ငါအရှင်မြတ်သည် အသင်တို့အနက်မှ နောင်လာနောင်သားတို့ကိုလည်း ကောင်းစွာ သိတော်မူပြီးဖြစ်ပေသတည်း။ [၁]

وَإِنَّ رَبَّكَ هُوَ يَحْشُرُهُمْ إِنَّهُ حَكِيْمٌ عَلِيْمٌ ﴿٢٥﴾

၂၅။ ထိုမှတပါး အမှန်စင်စစ်အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ထိုအရှင်မြတ်သည်ပင်လျှင် ၎င်းတို့အား (ကိယာမတ်နေ့တွင်) စုရုံး တော်မူပေမည်။ [၂] ဧကန်မလွဲ ထိုအရှင်မြတ်သည် ဆင်ခြင်တုံတရားနှင့်ပြည့်စုံတော်မူသောအရှင်၊ (အရာခပ်သိမ်းတို့ကို) အကြွင်းမဲ့ သိတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

---

(၂) မိုး၊ မြေ၊ ရေ၊ လေများ ဖန်ဆင်းခြင်း သတ္တဝါအပေါင်းတို့အား ရိက္ခာပေးခြင်းများသည် အလ္လာဟ်အရှင်မြတ်၏ အလုပ်ဖြစ်သကဲ့သို့ သတ္တဝါအပေါင်းတို့အား ရှင်စေခြင်း၊ သေစေခြင်းများသည်လည်း အလ္လာဟ်အရှင်မြတ်၏ အလုပ်ပင်ဖြစ်သည်။ ထိုအရှင်မြတ်မှတပါး အခြားမည်သူ၏ အလုပ်မျှမဟုတ်ပေ။

သတ္တဝါအပေါင်းတို့သည် သေကြေပျက်စီးသွားကြမည်။ အလ္လာဟ်အရှင်မြတ်တစ်ပါးတည်းသာလျှင် ကျန်ရှိနေတော်မူမည်ဖြစ်သည်။ ရှာဟ်အဗ်ဒုလ်ကာဒစ်ရ်သခင် ဖွင့်ဆိုရေးသားချက်အရ အားလုံးသေကြေပျက်စီးသွားကြမည်။ သို့ရာတွင် ၎င်းတို့ရှာဖွေ ဆည်းပူးထားကြသော အရာများသည် အလ္လာဟ်အရှင်မြတ်လက်တော်တွင်း၌ ကျန်ရစ်နေခဲ့မည်ဖြစ်သည်" ဟူ၏။

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ်၏ အနန္တတန်ခိုးတော်များ အကြောင်းပါရှိခဲ့၏။ ယခု ဤအာယတ်တော်တွင် ထိုအရှင်မြတ်၏ အနန္တဉာဏ် တော်အကြောင်း မိန့်ဆိုထားတော်မူ၏။ ထိုအရှင်မြတ်သည် ရှေးလူဟောင်းများ၏ အကြောင်းကိုလည်း အကြွင်းမဲ့သိတော်မူ၏။ နှောင်းလူများ၏အကြောင်းကိုလည်း အကြွင်းမဲ့သိတော်မူ၏။ ထိုအရှင်မြတ် မသိတော်မူသောအရာဟူ၍ အလျှင်းမရှိ။

(၂) ဤကမ္ဘာသည် နောင်တမလွန်ဘဝအတွက် စိုက်ပျိုးရာဌာနပင်ဖြစ်သည်။ လူသားတို့သည် ဤကမ္ဘာတွင် မိမိတို့စိုက်ပျိုးထားသော အသီးအနှံများကို ကောင်းသည်ဖြစ်စေ၊ ဆိုးသည်ဖြစ်စေ၊ နောင်တမလွန်ဘဝ၌ စားသုံးကြရမည်သာဖြစ်သည်။ ယင်းသို့ စားသုံးနိုင်ကြရန်အတွက် အလ္လာဟ်အရှင်မြတ်သည် သတ္တဝါအပေါင်းတို့အား သင်္ချိုင်းများတွင် မြေဖြစ်နေသည်ဖြစ်စေ၊ တိရစ္ဆာန်များ၏ ဝမ်းဗိုက်များတွင် ရောက်နေသည်ဖြစ်စေ၊ ရေထုအောက်တွင် ရောက်နေသည်ဖြစ်စေ၊ လေထုတွင်ပျံ့လွင့်နေသည်ဖြစ်စေ၊ မီးလောင်ကျွမ်း၍ ပြာပင်ဖြစ်နေသည်ဖြစ်စေ၊ အဘယ်ဌာန၌ အဘယ်ဘဝသို့ပင် ရောက်ရှိနေသည်ဖြစ်စေ အလ္လာဟ်အရှင်မြတ်သည် မိမိ၏အနန္တ ➤➤

وَلَقَدْ خَلَقْنَا الْإِنْسَانَ مِنْ صَلْصَالٍ مِنْ حَمَإٍ مَسْنُونٍ ﴿٢٦﴾

၂၆။ ထိုမှတပါး စင်စစ်ဧကန် ငါအရှင်မြတ်သည် လူသားကို ပုံသွင်းပြီဖြစ်သော အသံမြည်သော ရွှံ့ပုပ်ခြောက်ဖြင့် ဖန်ဆင်းတော်မူခဲ့လေသည်။ [၁]

وَالْجَانَّ خَلَقْنَاهُ مِنْ قَبْلُ مِنْ نَارِ السَّمُومِ ﴿٢٧﴾

၂၇။ ၎င်းပြင် ဂျင်(န်)သတ္တဝါကို (လူသားအား ဖန်ဆင်း တော်မမူမီ)အလျှင်က ပူပြင်းလှစွာသော မီးဖြင့် ဖန်ဆင်းတော်မူခဲ့လေသတည်း။ [၂]

**(တစ်နည်း)**

ထိုမှတပါး ငါအရှင်မြတ်သည် လူ(ဝါ)အာဒမ်ကို နယ်ထားသောရွှံ့စေးဖြင့်ပြီးသော အသံမြည်သော မြေဖြင့် ဖန်ဆင်းတော်မူခဲ့၏။ ၎င်းပြင် ဂျင်န်(ဝါ) အဗုလ်ဂျင်န်ကို ၎င်းအလျှင်(ဝါ)အာဒမ်အလျှင် အလွန် ပူပြင်းသော မီးဖြင့် ဖန်ဆင်းတော်မူခဲ့၏။ (ထာနဝီကို မှီးသည်)

---

➤➤ တန်ခိုးတော်ဖြင့် ပြန်လည်စုရုံးစေတော်မူပြီး ကောင်းသူတို့အား ကောင်းကျိုး၊ မကောင်းသူတို့အား မကောင်းကျိုးများကို တရားသဖြင့် ပေးတော်မူမည်သာဖြစ်သတည်း။

① **<u>လူကိုဖန်ဆင်းတော်မူခြင်း</u>**

အလ္လာဟ်အရှင်မြတ်သည် လူကိုမည်သည့်အရာနှင့် မည်သို့မည်ပုံ စတင်ဖန်ဆင်းတော်မူသည့်အကြောင်းကို ဤအာယတ်တော်တွင် ဖွင့်ဟ မိန့်ဆိုထားတော်မူသည်။ ဤအာယတ်တော်တွင် သုံးနှုန်းထားတော်မူသည့် အောက်ပါ ပုဒ်သုံးပုဒ်ကို အထူးစဉ်းစားဆင်ခြင်အပ်ပေသည်။

(၁) (صلصال) "ဆွာလ်ဆွာလ်" အသံမြည်သော ရွှံ့ခြောက်။

(၂) (حمإ) "ဟမအ်"ဟူသည် အနံ့ထွက်နေသော၊ အချဉ်ဓာတ်ပေါက်နေသော၊ မည်းနက်သော ရွှံ့ပုပ်ကိုဆိုလိုသည်။

(၃) (مسنون) "မာစ်နုန်"၏ အဓိပ္ပာယ် နှစ်မျိုးရသည်။

က။ ပုပ်နေသောရွှံ့မြေ၊ ပုပ်နေသည့်အတွက် စေး၍လည်းနေ၏။ (ဝါ) စေးပုပ်နေသော ရွှံ့မြေ။

ခ။ ပုံသွင်းထားသောအရာ၊ ပုံသဏ္ဌာန်တစ်မျိုးတစ်ဖုံ ပြုလုပ်ထားသောအရာ။

ဤသည့်ပုဒ်များကို ထောက်ရှုခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်သည် လူကိုစတင်ဖန်ဆင်းတော်မူရာ၌ ဦးစွာပထမ အချဉ်ဓာတ်ပေါက်နေသော ရွှံ့မြေဖြင့် ရုပ်လုံးတစ်ခု ပြုလုပ်တော်မူခဲ့ကြောင်း၊ ထို့နောက် ထိုရုပ်လုံးသည် ခြောက်သွေ့သွားခဲ့ကြောင်း၊ ထို့နောက်တွင် ထိုရုပ်လုံး၌ အသက်သွင်းတော်မူခဲ့ကြောင်းကို သိရှိရပေသည်။ ဤသည် ကမ္ဘာဦးဖခင်ကြီး အာဒမ်သခင်အား စတင် ဖန်ဆင်းတော်မူခြင်း၏ အကြောင်းအမှန်ပင်ဖြစ်သည်။

وَإِذْ قَالَ رَبُّكَ لِلْمَلَٰٓئِكَةِ إِنِّي خَٰلِقٌۢ بَشَرًا مِّن صَلْصَٰلٍ مِّنْ حَمَإٍ مَّسْنُونٍ ﴿٢٨﴾

၂၈။ ၎င်းပြင် အခါတစ်ပါး၌ အသင့်အား ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ်သည် "မလာအိကဟ်" ကောင်းကင်တမန်တို့အား (ဤသို့) မိန့်ကြားတော် မူခဲ့လေသည်။ ဧကန်အမှန် ငါအရှင်မြတ်သည် လူသားကို ပုံသွင်းပြီးဖြစ်သော အသံမြည်သော ရွှံ့ပုပ်ခြောက်ဖြင့် ဖန်ဆင်းတော်မူမည် ဖြစ်ပေသည်။

فَإِذَا سَوَّيْتُهُۥ وَنَفَخْتُ فِيهِ مِن رُّوحِي فَقَعُوا۟ لَهُۥ سَٰجِدِينَ ﴿٢٩﴾

၂၉။ တဖန် ငါအရှင်မြတ်သည် (လူသား၏) ထို မြေရုပ်ကို စနစ်တကျ ပြီးစီးအောင် ပြုလုပ်(ဖန်ဆင်း) တော်မူ၍ ယင်း (မြေရုပ်တွင်း)၌ *မိမိအထံတော်မှ အသက်ဇီဝိန်ကို* [၁] မှုတ်သွင်းတော်မူလိုက်သောအခါ အသင်တို့သည် ထိုလူသား၏ ရှေ့မှောက်တွင် ပျပ်ဝပ် ဦးချကြလေကုန်။

فَسَجَدَ ٱلْمَلَٰٓئِكَةُ كُلُّهُمْ أَجْمَعُونَ ﴿٣٠﴾

၃၀။ သို့ဖြစ်ပေရာ "မလာအိကဟ်"ကောင်းကင်တမန် အပေါင်းတို့သည် အားလုံးပင် အသီးသီး စဂျ်ဒဟ် ပျပ်ဝပ် ဦးချခဲ့လေကြသည်။

إِلَّآ إِبْلِيسَ أَبَىٰٓ أَن يَكُونَ مَعَ ٱلسَّٰجِدِينَ ﴿٣١﴾

၃၁။ အီဗ်လီစ်မှအပ၊ ယင်းအီဗ်လီစ်မှာမူကား စဂျ်ဒဟ် ပျပ်ဝပ်ဦးချသူတို့တွင် အပါအဝင်ဖြစ်ခြင်းကို ငြင်းပယ် ခဲ့လေသတည်း။

---

② **ဂျင်န်ကို မီးဖြင့်ဖန်ဆင်းတော်မူခြင်း။**

(نَارِ السَّمُومِ) ဟူသည် လေနှင့်ရောစပ်လျက်ရှိသည့် အလွန်ကြည်လင်သော မီးကိုဆိုသည်။ ဤသည့်သဘောကို ကုရ်အာန်(၅၅း၁၅)တွင်လည်း မိန့်ဆိုထားတော်မူသည်။ သို့တည်းမဟုတ် မီးကဲ့သို့ လောင်ကျွမ်း စေသည့် လေပူကြီးကိုလည်း ဆိုနိုင်သည်။ အသို့ပင် ဖြစ်စေကာမူ လူသားတို့၏ဖခင်ကြီး အာဒမ်သခင်သည် မြေအများစုပါသည့် ပစ္စည်းဖြင့် ဖန်ဆင်းခြင်းခံခဲ့ရသည်။ ဂျင်န်တို့၏အဘမှာမူ မီးအများစုပါသည့် ပစ္စည်းဖြင့် ဖန်ဆင်းခြင်းခံခဲ့ရလေသည်။ "အီဗ်လီစ်"သည်လည်း ဤအမျိုးအစားတွင် အပါအဝင်ဖြစ်သည်။

① ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်က "ငါ၏ရူးဟ်-အသက်" ဟု မိန့်ဆိုသုံးနှုန်းထားတော်မူခြင်းမှာ လူ၏ဂုဏ်ရည်ကို မြှင့်တင်ပေါ်လွင် စေတော်မူရန်ပင်ဖြစ်သည်။

ထိုသို့ အလ္လာဟ်အရှင်မြတ်က-လူ၌ ရူးဟ် မှုတ်သွင်းတော်မူခဲ့သည့် အတွက်ကြောင့်ပင် လူ၌ အလ္လာဟ်အရှင်မြတ်၏ "ခလီဖဟ်" ကိုယ်စားလှယ်ဖြစ်နိုင်သည့် စွမ်းရည်သတ္တိဖြစ်ပေါ်လာခဲ့ပေသည်။

قَالَ يَٰٓإِبۡلِيسُ مَا لَكَ أَلَّا تَكُونَ مَعَ ٱلسَّٰجِدِينَ ٣٢

၃၂။ ထိုအခါ ထိုအရှင်မြတ်က အို-အီဗ်လီစ်၊ အသင်သည် ပျပ်ဝပ်ဦးချသူတို့တွင် အပါအဝင် မဖြစ်ရန် အသင့်၌ မည်သည့်အကြောင်းရှိပေသနည်းဟု မေးမြန်းတော်မူခဲ့လေသည်။

قَالَ لَمۡ أَكُن لِّأَسۡجُدَ لِبَشَرٍ خَلَقۡتَهُۥ مِن صَلۡصَٰلٖ مِّنۡ حَمَإٖ مَّسۡنُونٖ ٣٣

၃၃။ (ထိုအခါ) ယင်းအီဗ်လီစ်က ကျွန်တော်မျိုးသည် အရှင်မြတ်က ပုံသွင်းထားသော အသံမြည်သောရွံ့ပုပ်ဖြင့် ဖန်ဆင်းတော်မူခဲ့သောလူသားအား ပျပ်ဝပ်ဦးချမည့်သူမဟုတ်ဟု လျှောက်ထားခဲ့လေသည်။

قَالَ فَٱخۡرُجۡ مِنۡهَا فَإِنَّكَ رَجِيمٞ ٣٤

၃၄။ ထိုအရှင်မြတ်က (ဤသို့) မိန့်ကြားတော်မူခဲ့လေသည်။ (အို-အီဗ်လီစ်) သို့ဖြစ်လျှင် အသင်သည် (ယခုပင်) ဤကောင်းကင်မှထွက်လော့၊ ဧကန်စင်စစ် အသင်သည် နှင်ထုတ်ခြင်းခံရသောသူပင် ဖြစ်ချေပြီ။

وَإِنَّ عَلَيۡكَ ٱللَّعۡنَةَ إِلَىٰ يَوۡمِ ٱلدِّينِ ٣٥

၃၅။ ၎င်းပြင် စင်စစ်ဧကန် ကရုဏာတော်မှ ကင်းဝေးခြင်းသည် အစားပေးမည့်နေ့တိုင် အသင်၏အပေါ်၌ ရှိချေမည်။ ၁

قَالَ رَبِّ فَأَنظِرۡنِيٓ إِلَىٰ يَوۡمِ يُبۡعَثُونَ ٣٦

၃၆။ (ထိုအခါ) ယင်းအီဗ်လီစ်က အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ သို့ဖြစ်ပါလျှင် အရှင်မြတ်သည် ကျွန်တော်မျိုးအား(လူသတ္တဝါအပေါင်းတို့) ရှင်ပြန်ထကြရမည့်နေ့တိုင်အောင် (သေခြင်းမှလည်းကောင်း၊ ပြစ်ဒဏ်ခတ်တော်မူခြင်းမှလည်းကောင်း၊) ရွှေ့ဆိုင်းထားတော်မူပါဟု လျှောက်ထား ပန်ကြားခဲ့လေသည်။

---

(၁) "ကိယာမတ်နေ့တိုင်" ဟူသော အသုံးအနှုန်းသည် အရဗီစာပေ ဝေါဟာရတွင် အမြဲထာဝရ ဟူသော အနက်၌ဖြစ်သည်။ ကိယာမတ်နေ့ဖြစ်ပြီးနောက် အီဗ်လီစ်သည် "လအ်နတ်"မှ လွတ်ကင်းသွားမည်ဟူ၍ကား အလျှင်းမဟုတ်ပေ။

قَالَ فَإِنَّكَ مِنَ الْمُنظَرِينَ ۝٣٧

၃၇။ ထိုအရှင်မြတ်က မိန့်ကြားတော်မူခဲ့သည်မှာ သို့ဖြစ်လျှင် ဧကန်မလွဲ အသင်သည် ရွှေ့ဆိုင်းထားခြင်းကို ခံရသောသူတစ်ဦးပင် ဖြစ်ပေသည်။

إِلَىٰ يَوْمِ الْوَقْتِ الْمَعْلُومِ ۝٣٨

၃၈။ သတ်မှတ်ပြဋ္ဌာန်းပြီးဖြစ်သော အချိန်ကာလ (ဆိုက်ရောက်မည့်)နေ့တိုင်အောင်။

قَالَ رَبِّ بِمَا أَغْوَيْتَنِي لَأُزَيِّنَنَّ لَهُمْ فِي الْأَرْضِ وَلَأُغْوِيَنَّهُمْ أَجْمَعِينَ ۝٣٩

၃၉။ (ထိုအခါ) ယင်းအီဗ်လီစ်က (ဤသို့)လျှောက်ထား ပန်ကြားခဲ့ပြန်၏။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား လွဲချော် မှောက်မှားစေတော်မူခဲ့သောကြောင့် အမှန်ပင် ကျွန်တော်မျိုးသည် ကမ္ဘာလောကတွင် (ပြစ်မှုဒုစရိုက်များကို) ယင်းလူသားတို့၏ အမြင်၌ လှပတင့်တယ်အောင် ပြုလုပ်ပါမည်။ ထို့ပြင် ဧကန်မလွဲ ကျွန်တော်မျိုးသည် ၎င်းတို့အားလုံးကိုပင်လွဲချော်မှောက်မှားအောင်လည်း ပြုလုပ်ပါမည်။

إِلَّا عِبَادَكَ مِنْهُمُ الْمُخْلَصِينَ ۝٤٠

၄၀။ သို့ရာတွင် ၎င်းတို့အနက် (အရှင်မြတ်) ရွေးချယ်ထားတော်မူသောအရှင်မြတ်၏ ကျွန်များကိုမူကား (ကျွန်တော်မျိုးသည် လွဲချော် မှောက်မှားအောင် အလျှင်းပြုလုပ်နိုင်မည် မဟုတ်ပါ)။

قَالَ هَٰذَا صِرَاطٌ عَلَيَّ مُسْتَقِيمٌ ۝٤١

၄၁။ ထိုအရှင်မြတ်က ဤသည်ကား ငါအရှင်မြတ် အထံတော်သို့ (ရောက်စေမည့်) ဖြောင့်မတ်သော လမ်းပင်ဖြစ်သည်ဟု မိန့်ကြားတော်မူလေ၏။

إِنَّ عِبَادِي لَيْسَ لَكَ عَلَيْهِمْ سُلْطَانٌ إِلَّا مَنِ

၄၂။ ဧကန်စင်စစ် ငါအရှင်မြတ်၏ ကျွန်များကား လွဲချော် မှောက်မှားသူတို့အနက်မှ အသင့်နောက်သို့လိုက်ခဲ့သူမှအပ အသင်၌၎င်းတို့အပေါ်ဝယ် မည်သို့မျှပင် ဩဇာအာဏာရှိလိမ့်မည်မဟုတ်ပေ။[၁]

(၁) ဤအာယတ်တော်၏ အနက်သဘောမှာ နှစ်မျိုးနှစ်စားဖြစ်နိုင်သည်။

➢➢

اتَّبَعَكَ مِنَ الْغٰوِيْنَ ۝٤٢

တစ်နည်း။

ဧကန်စင်စစ် ငါအရှင်မြတ်၏ ကျွန်များ အပေါ်ဝယ် အသင့်၌ မည်သို့မျှပင် သြဇာအာဏာ ရှိမည်မဟုတ်။ သို့ရာတွင် လွဲချော်မှောက်မှားသူများ အနက် အသင့်စကား နားထောင်သူများ (အပေါ်တွင်မူ အသင့် သြဇာအာဏာရှိပေမည်)။

وَاِنَّ جَهَنَّمَ لَمَوْعِدُهُمْ اَجْمَعِيْنَ ۝٤٣

၄၃။ ၎င်းပြင် ဧကန်မလွဲ ဂျဟန္နမ်ငရဲဘုံသည် ၎င်းတို့အားလုံး၏ ချိန်းချက်ပြီးဖြစ်သော ဌာနပင် ဖြစ်ပေသည်။

لَهَا سَبْعَةُ اَبْوَابٍ لِكُلِّ بَابٍ مِّنْهُمْ جُزْءٌ مَّقْسُوْمٌ ۝٤٤

၄၄။ ယင်း*ဂျဟန္နမ်ငရဲဘုံ၌ တံခါးပေါက် ခုနစ်ပေါက် ရှိ၍*[၁] တံခါးပေါက်အသီးသီးတို့အဖို့ ယင်းအီဗ်လီစ်၏ နောက်လိုက်များအနက်မှ ခွဲဝေပြီးဖြစ်သောဝေစုဝေပုံသည် ရှိပေသတည်း။

---

➤➤ (က) တစ်မျိုးမှာ အလ္လာဟ်အရှင်မြတ် ရွေးချယ်ထားတော်မူသော ကျွန်များအပေါ်၌ အီဗ်လီစ်၏ သြဇာအာဏာ အလျှင်းမရှိပေ ဟူ၍ဖြစ်၏။

(ခ) အခြားတစ်မျိုးမှာ အလ္လာဟ်အရှင်မြတ်၏ မည်သည့်ကျွန်တစ်ဦးတစ်ယောက်ကိုမျှ အီဗ်လီစ်သည် အတင်းအဓမ္မ အလျှင်းမပြုနိုင်ပေ။ သို့ရာတွင် အကြင်သူတစ်ဦးသည် မိမိ၏စေတနာအလျောက် မိမိ၏ မိုက်မဲမှုဖြင့် မိမိကိုယ်တိုင် အီဗ်လီစ်၏စကားကို နားထောင်သော်၊ ထိုသူသည် မိမိစေတနာအလျောက် ပျက်စီးသွားပေမည်၊ ဆိုလိုသည်ကား အီဗ်လီစ်သည် လူသားတစ်ဦးအားအမျိုးမျိုးသွေးဆောင် ဖြားယောင်းနိုင်၏။ သို့ရာတွင် အတင်းအဓမ္မကား အလျှင်းမပြုနိုင်ပေ။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၁၄း၂၂)တွင် အတိအလင်းပါရှိသည်။

(၁) အတိတ်ခေတ် အချို့မုဖတ်စ်စိရ်များက "ဂျဟန္နမ်၌ တံခါးပေါက်ခုနစ်ပေါက်ရှိသည်" ဟူသည် ထက်အောက် အထပ် ခုနစ်ထပ်ကို ရည်ညွှန်းသည်ဟု ဆိုကြသည်။ သာဝကကြီး အီဗ်နုအဗ္ဗားစ် သခင်က အဆိုပါ အထပ်ခုနစ်ထပ်၏ အမည်များကိုပင် အောက်ပါအတိုင်း ဖော်ပြထားခဲ့သည်။

| | | | | | |
|---|---|---|---|---|---|
| ၁။ | ဂျဟန္နမ်၊ | ၂။ | စအီရ်၊ | | |
| ၃။ | လဇွာ၊ | ၄။ | ဟုတွမဟ်၊ | | |
| ၅။ | စကရ်၊ | ၆။ | ဂျဟီမ်၊ | ၇။ | ဟာဝိယဟ်၊ |

"ဂျဟန္နမ်" ဟူသောပုဒ်သည် ငရဲဘုံတစ်ခုလုံးအတွက်လည်း အသုံးဖြစ်သည်။ ငရဲဘုံ၏ အထပ်တစ်ခုအဖို့လည်း အသုံးဖြစ်၏။ ➤➤

إِنَّ الْمُتَّقِينَ فِي جَنّٰتٍ وَّعُيُوْنٍ ۝٤٥

၄၅။ ဧကန်မလွဲ သူတော်စင် သူတော်မြတ်တို့မှာမူကား ၁ ဥယျာဉ်များ၌လည်းကောင်း၊ စိမ့်စမ်းများ၌လည်းကောင်း၊ ရှိကြပေမည်။

اُدْخُلُوْهَا بِسَلٰمٍ اٰمِنِيْنَ ۝٤٦

၄၆။ (ယင်းသူတော်စင်သူတော်မြတ်တို့အား ကိယာမတ်နေ့တွင်) "အသင်တို့သည် ယင်းဥယျာဉ်များသို့ (စိုးရိမ်ကြောင့်ကြမှု အပေါင်းမှ) ငြိမ်းချမ်းလျက် (ဘေးအန္တရာယ် အသွယ်သွယ်တို့မှ) ကင်းလွတ်စွာ ဝင်ရောက်ကြလေကုန်" (ဟုမိန့်ကြားတော်မူမည်။)

وَنَزَعْنَا مَا فِيْ صُدُوْرِهِمْ مِّنْ غِلٍّ اِخْوَانًا عَلٰى سُرُرٍ مُّتَقٰبِلِيْنَ ۝٤٧

၄၇။ ထို့ပြင် ငါအရှင်မြတ်သည် ယင်းသူတော်စင်တို့၏ စိတ်နှလုံးများတွင် (ကျန်)ရှိနေသေးသော ရန်ငြိုးရန်စ အာဃာတကို ထုတ်ပစ်တော်မူမည်။ (၎င်းတို့သည်) သလွန်များပေါ်၌ မျက်နှာချင်းဆိုင်ကြလျက် ညီသား အစ်ကိုများဖြစ်ကာ (ခင်မင်ရင်းနှီးစွာ) ရှိနေကြပေမည်။ ၂

---

➤➤ အချို့ မုဖတ်စ်စိရ်များက ဂျဟန္နမ်၏ တံခါးခုနစ်ပေါက်ဟူသည် အထပ် ခုနစ်ထပ်ကို ဆိုလိုသည်မဟုတ်၊ တံခါးပေါက် ခုနစ်ပေါက်ကိုပင် ဆိုလိုသည်။ ငရဲလားမည့်သူများသည် အဆိုပါတံခါးပေါက်များမှ အသီးသီး ဝင်ကြရမည်ဖြစ်သည်ဟု ဆိုကြသည်။

(၁) "မွတ္တကီ" သူတော်စင်များတွင် ကုဖ်ရ်၊ ရှရစ်က်ကို ရှောင်ကြဉ်သော "မုအ်မင်န်" များအားလုံးပင် အကျုံးဝင်ပေသည်။

(၂) ဤပစ္စက္ခ မျက်မှောက်ဘဝတွင် မွတ္တကီ သူတော်စင်များ၌ပင် အချင်းချင်း လူ့သဘာဝအလျောက် မနာလိုစိတ်၊ မလိုမုန်းတီးစိတ်၊ အာဃာတ မရှုလိုစိတ်၊ ငြူစူမှု၊ ငြိုငြင်မှုများသည် နည်းများမဆို ရှိပေသည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် နောင်တမလွန်ဘဝတွင် ထိုသည့် မလိုမုန်းတီးစိတ်များကို ဂျန္နတ်သားတို့၏ စိတ်နှလုံးများအတွင်းမှ လုံးဝ ကင်းစင်စေတော်မူမည် ဖြစ်သည်။ ထို့အတွက်ကြောင့် ဂျန္နတ်သားတို့သည် ဂျန္နတ်တွင် အချင်းချင်းလုံးဝ သန့်သန့်ရှင်းရှင်း ညီအစ်ကိုရင်းပမာ ချစ်ကြည်စွာ ရှိကြပေမည်။

ဤပစ္စက္ခတွင် သူတော်စင်များ၌ လူ့သဘာဝလျောက် အချင်းချင်း အထင်အမြင်မှားမှု၊ မကျေနပ်မှု၊ မလိုမုန်းတီးမှု၊ ငြူစူမှု၊ ငြိုငြင်မှုများ ဖြစ်ပေါ်ခြင်းသည် တက္ကဝါတရားနှင့် မဆန့်ကျင်ပေ။

မာဂျိဒီ။အ-၃။ စ-၅၄၂။ အအ-၁၂၂။

لَا يَمَسُّهُمْ فِيهَا نَصَبٌ وَمَا هُمْ مِّنْهَا بِمُخْرَجِينَ ﴿٤٨﴾

၄၈။ ၎င်း(သူတော်စင်)တို့၌ ယင်းဥယျာဉ်များတွင် မည်သည့်ဘေးဒုက္ခမျှလည်း သက်ရောက်မည် မဟုတ်ပေ၊ ၎င်းပြင် ထိုသူတို့သည် ယင်းဥယျာဉ်များမှ နှင်ထုတ်ခြင်း ခံကြရမည်လည်း မဟုတ်ပေ။

نَبِّئْ عِبَادِي أَنِّي أَنَا الْغَفُورُ الرَّحِيمُ ﴿٤٩﴾

၄၉။ (အို-နဗီတမန်တော်) အသင်သည် ငါအရှင်မြတ်၏ကျွန်များအား ကေန်မလွဲ ငါအရှင်မြတ်သည် သာလျှင် အလွန်တရာ လွတ်ငြိမ်း ချမ်းသာခွင့်ပေးသနားတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာညှာတာတော်မူသောအရှင်၊ ဖြစ်တော်မူကြောင်း ပြောကြားပါလေ။

وَأَنَّ عَذَابِي هُوَ الْعَذَابُ الْأَلِيمُ ﴿٥٠﴾

၅၀။ ထိုမှတပါး ကေန်မလွဲ ငါအရှင်မြတ်၏ ပြစ်ဒဏ်သည်လည်း အလွန်ပြင်းထန်သောပြစ်ဒဏ်ဖြစ်ကြောင်းကိုလည်း (အသင်သည် ပြောကြားလိုက်ပါလေ)။ [၁]

---

(၁) အထက်တွင် အပြစ်ရှိသူများနှင့် သူတော်စင်များ၏ နောက်ဆုံးအဖြစ်ကို မိန့်ဆိုထားတော်မူ၏။ ဤအာယတ်တော်တွင် သတိပေးထားတော်မူသည်မှာ - အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များသည် တစ်နည်းမဟုတ်တစ်နည်း အခါခပ်သိမ်း ပေါ်လွင်ထင်ရှားလျက်ပင် ရှိပေသည်။ အလ္လာဟ်အရှင်မြတ်သည် မိမိ၏အဖန်ဆင်းခံအားလုံးတို့အား အလွန်သနားကြင်နာတော်မူ၏။ သနားကြင်နာမှုဆိုရာ၌လည်း အလ္လာဟ်အရှင်မြတ်၏ သနားကြင်နာမှုသာလျှင် အစစ်အမှန်ဖြစ်ပေသည်။ လူ့လောကတွင် ရှိရှိသမျှသော သနားကြင်နာမှုများသည်လည်း ထိုအရှင်မြတ်၏ သနားကြင်နာမှု၏ အရိပ်အယောင် အကျိုးမျှသာဖြစ်ပေသည်။ သို့ပါလျက် အကြင်သူတစ်ဦးသည် မိမိ၏မိုက်မဲမှုကြောင့် ကရုဏာတော်၏ တံခါးများကို ပိတ်ထားသော် ထိုအရှင်မြတ်သည် ထိုသို့သောသူအား ကြီးလေးသောပြစ်ဒဏ်ကို ပေးတော်မူသည်။ ဤသည် မည်သူ့မပြု မိမိမှုဆိုသကဲ့သို့ မိမိ၏မိုက်မဲမှုပင်။ ထို့အတွက်ကြောင့် လူသားတို့သည် အတင့်လည်းမရဲရာ မက်လည်းမကင်းရာ။

ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် မိမိဂုဏ်တော်နှစ်ပါးကို မိန့်ဆိုထားတော်မူသည်။ ထိုအရှင်မြတ်သည် အလွန် သနားကြင်နာတော်မူသောအရှင်လည်း ဖြစ်တော်မူသည်။ ထိုအရှင်မြတ်၏ ပြစ်ဒဏ်တော်သည် အလွန်ပြင်းထန်သည်။ ထို့အတွက် မုအ်မင်န်တစ်ဦး၏ စိတ်သည် မျှော်လင့်ချက်နှင့် စိုးရိမ်ချက်နှစ်ခု၏စပ်ကြားတွင် ရှိနေရပေမည်ဟု တမန်တော်မြတ်က မိန့်ဆိုတော်မူခဲ့ခြင်းဖြစ်သည်။ လူသားတစ်ဦးသည် အလ္လာဟ်အရှင်မြတ်၏ အစအဆုံးမရှိသော ကရုဏာတော်များကို စဉ်းစားမိသောအခါ အဘက်ဘက်တွင် မျှော်လင့်ချက် ရှိလာလေသည်။ တစ်ဖန် မိမိ၏အပြစ်များ၊ မှားယွင်းချက်များကို စဉ်းစားမိပြန်သောအခါ မျှော်လင့်ချက်သည် စိုးရိမ်ချက်နှင့် ပြောင်းလဲသွားလေသည်။



وَنَبِّئْهُمْ عَنْ ضَيْفِ إِبْرٰهِيْمَ ﴿٥١﴾

၅၁။ ထိုမှတပါး(အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား (နဗီတမန်တော်)အီဗ်ရာဟီမ်၏ ဧည့်သည်များနှင့်ပတ်သက်၍လည်းအကြောင်းကြားပါလေ။ ၁

إِذْ دَخَلُوْا عَلَيْهِ فَقَالُوْا سَلٰمًا قَالَ إِنَّا مِنْكُمْ وَجِلُوْنَ ﴿٥٢﴾

၅၂။ တစ်ရံရောအခါဝယ် ထိုဧည့်သည်များသည် ယင်း (နဗီတမန်တော်)အီဗ်ရာဟီမ်၏ထံသို့ ဝင်ရောက်ခဲ့ကြကုန်၏။ ထိုအခါဝယ် ယင်းဧည့်သည်တို့က "စလာမ်" ငြိမ်းချမ်းသာယာမှုသည် (အသင်တို့အပေါ်၌) သက်ရောက်ပါစေသားဟု ပြောဆိုခဲ့ကြကုန်၏။ (ထိုအခါ) ယင်း(နဗီတမန်တော်)အီဗ်ရာဟီမ်က ဧကန်စင်စစ် ကျွန်ုပ်တို့သည် အသင်တို့အား ကြောက်ရွံ့စိုးရိမ်ကြပါသည်ဟု ပြောဆိုခဲ့လေသည်။

قَالُوْا لَا تَوْجَلْ إِنَّا نُبَشِّرُكَ بِغُلٰمٍ عَلِيْمٍ ﴿٥٣﴾

၅၃။ (ထိုအခါ) ယင်းဧည့်သည်တို့က (အို-အီဗ်ရာဟီမ်) အသင်သည် မကြောက်ပါလေနှင့်၊ ဧကန်စင်စစ် ကျွန်ုပ်တို့သည် အသင့်အား ဉာဏ်ပညာနှင့်ပြည့်စုံသော သားတော်တစ်ပါးနှင့် ပတ်သက်၍ ဝမ်းမြောက်ဖွယ် သတင်းပေးကြပါသည်ဟု ပြောကြားခဲ့ကြလေသည်။

قَالَ أَبَشَّرْتُمُوْنِيْ عَلٰٓى أَنْ مَّسَّنِيَ الْكِبَرُ فَبِمَ تُبَشِّرُوْنَ ﴿٥٤﴾

၅၄။ ထို(နဗီတမန်တော်အီဗ်ရာဟီမ်)က အကျွန်ုပ်၌ အသက်အရွယ်အိုမင်းမှုသည် ဆိုက်ရောက်နေပါလျက် အသင်တို့သည် အကျွန်ုပ်အား သတင်းကောင်းပေးကြလေသလော၊ သို့ဖြစ်ပေရာ အသင်တို့သည် မည်သည့်အကြောင်းနှင့်စပ်လျဉ်း၍ သတင်းကောင်းပေးကြပါသနည်း၊ ဟု ပြောဆို မေးမြန်းခဲ့လေသည်။ ၂

---

➢➢ ဤအာယတ်တော်၌ ပါရှိသည့် ကောင်းချီးသတင်းတွင် မုအ်မင်န်သူတော်စင်များ အကျုံးဝင်သကဲ့သို့ အပြစ်ရှိသော မုအ်မင်န်များလည်း အကျုံးဝင်ပေသည်။

(၁) တမန်တော်လူတ်၏ အမျိုးသားများအနက် ဆိုးသွမ်းယုတ်မာသော သူယုတ်တို့အား ကွပ်မျက်ရန် ရောက်ရှိလာခဲ့သော ကောင်းကင်တမန်များသည် လမ်းခရီးတွင် တမန်တောအီဗ်ရာဟီမ်ထံသို့ ဝင်ရောက်ပြီး ➢➢

قَالُوا بَشَّرْنٰكَ بِالْحَقِّ فَلَا تَكُنْ مِّنَ الْقٰنِطِيْنَ ﴿٥٥﴾

၅၅။ ထိုသို့သည်တို့က ကျွန်ုပ်တို့သည် အသင့်အား အဟုတ်အမှန် (ဖြစ်မည့်ကိစ္စ)နှင့် စပ်လျဉ်း၍ သတင်းကောင်းပေးကြခြင်း ဖြစ်ပါသည်။ သို့ဖြစ်ရာ အသင်သည် မျှော်လင့်ချက် ကင်းသူတို့အနက်မှ မဖြစ်ပါလေနှင့်ဟု ပြောဆို ဖြေကြားခဲ့ကြပေသည်။

قَالَ وَمَنْ يَّقْنَطُ مِنْ رَّحْمَةِ رَبِّهٖٓ اِلَّا الضَّآلُّوْنَ ﴿٥٦﴾

၅၆။ ထို(နဗီတမန်တော်)အီဗ်ရာဟီမ်က အမှန်စင်စစ် လမ်းလွဲသူတို့မှတစ်ပါး မည်သူသည် မိမိအားဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်၏ ကရုဏာတော်မှ မျှော်လင့်ချက် ကင်းပါသနည်း၊ ဟု ပြောဆိုခဲ့၏။

قَالَ فَمَا خَطْبُكُمْ اَيُّهَا الْمُرْسَلُوْنَ ﴿٥٧﴾

၅၇။ (တစ်ဖန်) ယင်း(နဗီတမန်တော်)အီဗ်ရာဟီမ်က (ဆက်လက်၍) အို-စေလွှတ်ခြင်းခံကြရကုန်သော (ကောင်းကင်တမန်တို့၊) ထို့နောက် အသင်တို့၌ (ဆောင်ရွက်ရန်) မည်သည့်ကိစ္စ ရှိနေပါသေးသနည်း ဟု ပြောဆိုမေးမြန်းခဲ့ပြန်၏။

---

➤➤ ကောင်းချီးသတင်း ပေးသွားခဲ့ကြသည့် အကြောင်း ကုရ်အာန် (၁၁း၆၉-၈၃)တွင် အကျယ် ဖွင့်ဆို ရေးသားခဲ့ပေပြီ။ ပြန်လည်ရှုပါကုန်။

Ⓙ သက်ရွယ်အိုမင်း ရင့်ရော်၍ မျှော်လင့်ချက် မရှိတော့သည့်အခါကျမှ ယခုကဲ့သို့ အံ့ဖွယ်သရဲ သားတော် တစ်ပါးရရှိမည့် ကောင်းချီးသတင်း ကြားရသည့်အတွက် တမန်တော်အီဗ်ရာဟီမ်သည် (အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ဖြင့် ယင်းသို့ဖြစ်နိုင်သည်ကို မယုံကြည်၍ကား မဟုတ်) လူ့အဘာဝအလျောက် အံ့သြမိခြင်း သာလျှင် ဖြစ်သည်။

လူ့စိတ်ဓာတ်၏ ထူးခြားချက်တစ်ရပ်မှာ မျှော်လင့်ချက်မရှိသည့် အချိန်အခါမျိုးတွင် ထူးဆန်း အံ့သြဖွယ်ရာ သတင်းကောင်းတစ်ရပ်ကို ကြားရသောအခါ ထိုသည့်သတင်းစကားကို စိတ်တွင်းမှ ယုံကြည်နေပါ လျက်နှင့်ပင် အံ့သြကြီးစွာဖြင့် နှိုက်နှိုက်ချွတ်ချွတ် မေးမြန်းလေ့ရှိသည်။

ထိုအခါ သတင်းပေးသူများက မိမိတို့ပေးသော သတင်းစကားများကို လေးနက်သည်ထက် လေးနက်အောင်၊ ရှင်းသည်ထက်ရှင်းအောင် ခိုင်မာတိကျပြတ်သားစွာ အခါခါ ထပ်မံပြောကြားလေ့ရှိကြသည်။

တစ်နည်းအားဖြင့် ယုံကြည်နေပါလျက် ယင်းကဲ့သို့ အံ့သြကြီးစွာဖြင့် မေးမြန်းခြင်းမှာ ယင်းသည့် ကောင်းချီးသတင်းကို ပိုမိုခိုင်မာ ထင်ရှားစေရန်နှင့် အထပ်ထပ်အခါခါ ကြားနာကာ နားအရသာခံစားရန်ပင် ဖြစ်ပေသည်။ ဤသည့်သဘောမျိုးဖြင့် တမန်တော် အီဗ်ရာဟီမ်ကလည်း ကောင်းကင်တမန်များအား အံ့သြကြီးစွာဖြင့် မေးမြန်းခဲ့ခြင်းဖြစ်ပေသည်။

၅၈။ ယင်း(ကောင်းကင်တမန်)တို့က (ဤသို့) ဖြေကြားခဲ့ကြလေသည်။ ဧကန်စင်စစ် ကျွန်ုပ်တို့သည် ပြစ်မှု ကျူးလွန်ကြကုန်သောလူမျိုးထံ စေလွှတ်ခြင်းကို ခံခဲ့ကြရလေသည်။

قَالُوٓا۟ إِنَّآ أُرْسِلْنَآ إِلَىٰ قَوْمٍ مُّجْرِمِينَ ﴿٥٨﴾

၅၉။ သို့ရာတွင် (နဗီတမန်တော်)လူတ်၏ အိမ်ထောင်စုသားတို့မပါ၊ သို့ရာတွင် ဧကန်အမှန် ကျွန်ုပ်တို့သည် ထိုတမန်တော်လူတ်၏ အိမ်ထောင်စုသားအားလုံးကို ကယ်တင်မည့်သူများပင် ဖြစ်ကြပေသည်။

إِلَّآ ءَالَ لُوطٍ إِنَّا لَمُنَجُّوهُمْ أَجْمَعِينَ ﴿٥٩﴾

၆၀။ သို့ရာတွင် ထိုတမန်တော်လူတ်၏ ကြင်ရာမှတပါး၊ ထိုကြင်ရာနှင့် ပတ်သက်၍ (အလ္လာဟ်အရှင်မြတ်က) မုချ ထိုသူမသည် နောက်ကျန်ရစ်နေကြမည့် သူများတွင် အပါအဝင် ဖြစ်မည်ဟူ၍ ငါအရှင်မြတ် ပြဋ္ဌာန်းတော်မူပြီးဖြစ်သည်(ဟု မိန့်ဆိုတော်မူသည်၊)[၁]

إِلَّا ٱمْرَأَتَهُۥ قَدَّرْنَآ ۙ إِنَّهَا لَمِنَ ٱلْغَٰبِرِينَ ﴿٦٠﴾

၆၁။ ထို့နောက် စေလွှတ်ခြင်း ခံကြရကုန်သော (ကောင်းကင်တမန်)တို့သည် (နဗီတမန်တော်)လူတ်၏ အိမ်ထောင်စုသားတို့ထံသို့ ရောက်ရှိလာကြသောအခါ။

فَلَمَّا جَآءَ ءَالَ لُوطٍ ٱلْمُرْسَلُونَ ﴿٦١﴾

၆၂။ ထို(နဗီတမန်တော်)လူတ်က ဧကန်စင်စစ် အသင်တို့သည် သူစိမ်းများပင် ဖြစ်ကြကုန်သည်ဟု ပြောဆိုလေသည်။

قَالَ إِنَّكُمْ قَوْمٌ مُّنكَرُونَ ﴿٦٢﴾

---

(၁) မှတ်ချက်။

တမန်တော်လူတ်(အလိုင်ဟစ္စလာမ်)၏ အတ္ထုပ္ပတ္တိကို ကုရ်အာန်(၆း၈၇)တွင် အကျယ်ရေးသားခဲ့ပေပြီ။

( قَدَّرْنَآ إِنَّهَا لَمِنَ ٱلْغَٰبِرِينَ ) ဟူသော ဝါကျတော်သည် အလ္လာဟ်အရှင်မြတ် မိန့်မြွက်တော်မူသော ဝါကျတော်လည်း ဖြစ်နိုင်သည်။ သို့ဖြစ်လျှင် ပြဿနာမပေါ်ချေ။ ဤဝါကျတော်သည် ကောင်းကင်တမန်များ ပြောဆိုသော စကားလည်းဖြစ်နိုင်သည်။ သို့ဖြစ်လျှင် လင်းပြရန်လိုမည်။ လင်းပြဦးအံ့-။

ဤဝါကျတော်သည် မျက်မြင်အားဖြင့် ပြစ်ဒဏ်ခတ်ရန် ရောက်ရှိလာခဲ့ကြသော ကောင်းကင်တမန်များ ပြောဆိုသော စကားနှင့်တူသည်။ အဘယ့်ကြောင့်ဆိုသော် ကောင်းကင်တမန်များသည် ထိုအချိန်တွင် အလ္လာဟ်အရှင်မြတ်၏ ပြဋ္ဌာန်းချက်ကို အကောင်အထည် ဖော်ရန် အလ္လာဟ် အရှင်မြတ် ၏ တာဝန်နှင့် ➤➤

قَالُوْا بَلْ جِئْنٰكَ بِمَا كَانُوْا فِيْهِ يَمْتَرُوْنَ ﴿٦٣﴾

၆၃။ ထို(ကောင်းကင်တမန်တော်)တို့က (ဤသို့) ပြောဆို ပြန်ကြားခဲ့ကြကုန်၏။ ထိုသို့ အလျှင်း မဟုတ်၊ စင်စစ်မှာကား ကျွန်ုပ်တို့သည် အသင်၏ ထံသို့၊ ၎င်းတို့ ဒွိဟသံသယဖြစ်နေကြသော ကိစ္စကို ဆောင်ယူ၍ လာခဲ့ကြပါသည်။

وَ اَتَيْنٰكَ بِالْحَقِّ وَاِنَّا لَصٰدِقُوْنَ ﴿٦٤﴾

၆၄။ ထိုမှတပါး ကျွန်ုပ်တို့သည် အသင်၏ထံသို့ (အကယ်စင်စစ်)အဟုတ်အမှန်ဖြစ်မည့်ကိစ္စကို ဆောင်ယူခဲ့ကြပါသည်။ ၎င်းပြင် မလွဲဧကန် ကျွန်ုပ်တို့သည် အမှန်ပြောဆိုသူများပင် ဖြစ်ကြကုန်သည်။

فَاَسْرِ بِاَهْلِكَ بِقِطْعٍ مِّنَ الَّيْلِ وَاتَّبِعْ اَدْبَارَهُمْ وَلَا يَلْتَفِتْ مِنْكُمْ اَحَدٌ وَّامْضُوْا حَيْثُ تُؤْمَرُوْنَ ﴿٦٥﴾

၆၅။ သို့ဖြစ်ပေရာ အသင်သည် မိမိအိမ်သူအိမ်သားတို့ကို ညဥ့်၏ အစိတ်အပိုင်းတစ်ခုခုတွင် ခေါ်ဆောင်၍ ထွက်ခွာသွားပါလေ။ ၎င်းနောက် အသင်သည် ၎င်းတို့၏နောက်မှ လိုက်သွားပါလေ။ ၎င်းပြင် အသင်တို့၏အနက်မှတစ်ဦးတစ်ယောက်မျှပင်(နောက်သို့) ပြန်လှည့်၍မကြည့်ရ။ ၎င်းနောက် အသင်တို့ (အားလုံး)သည် မိမိတို့၏အမိန့်ပေးခြင်းခံရသော နေရာသို့သာလျှင် (အာရုံစူးစိုက်၍)သွားကြလေကုန်။

وَقَضَيْنَآ اِلَيْهِ ذٰلِكَ الْاَمْرَ اَنَّ دَابِرَ هٰٓؤُلَآءِ مَقْطُوْعٌ مُّصْبِحِيْنَ ﴿٦٦﴾

၆၆။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုလူတ်၏ထံသို့ "ဧကန်စင်စစ် ထိုမြို့သားများ၏ အခြေအမြစ်သည် နံနက်မိုးလင်းချိန်၌ ဖြတ်တောက်ပြီး ဖြစ်ချိမ့်မည်" ဟူသော စီရင်ဆုံးဖြတ်ချက်ကို ပေးပို့တော် မူခဲ့ပေသတည်း။

وَجَآءَ اَهْلُ الْمَدِيْنَةِ يَسْتَبْشِرُوْنَ ﴿٦٧﴾

၆၇။ ထို့နောက် (စဒူမ်)မြို့သားတို့သည် ဝမ်းမြောက်ဝမ်းသာစွာ လာခဲ့ကြလေသည်။

---

▶▶ ရောက်ရှိလာခဲ့ကြခြင်း ဖြစ်သည်။ ထို့အတွက်ကြောင့် ကောင်းကင်တမန်များက အလ္လာဟ်အရှင်မြတ်၏ ကိုယ်စားလှယ်အဖြစ်နှင့် ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း (قَدَّرْنَا) အကျွန်ုပ်တို့ ပြဋ္ဌာန်းထားပြီး ဖြစ်သည်ဟု ပြောဆိုကြခြင်းဖြစ်သည်။

قَالَ إِنَّ هَٰٓؤُلَآءِ ضَيْفِى فَلَا تَفْضَحُونِ ٦٨

၆၈။ (ထိုအခါ) ယင်း (နဗီတမန်တော်)လူတ်က ကေန်စင်စစ် ဤသူတို့ကား ငါ၏ဧည့်သည်များပင် ဖြစ်ကြပေရာ အသင်တို့သည် ငါ့အား အရှက်မခွဲကြကုန်လင့်ဟု ပြောကြားခဲ့လေသည်။

وَٱتَّقُوا۟ ٱللَّهَ وَلَا تُخْزُونِ ٦٩

၆၉။ ထို့ပြင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ထိုမှတပါး အသင်တို့သည် ငါ့အား ဂုဏ်ရည်သေးသိမ်အောင် မပြုကြကုန်လင့်။

قَالُوٓا۟ أَوَلَمْ نَنْهَكَ عَنِ ٱلْعَٰلَمِينَ ٧٠

၇၀။ ၎င်း(မြို့သား)တို့က ကျွန်ုပ်တို့သည် အသင့်အားလူခပ်သိမ်းတို့(ကို မိမိထံ တည်းခိုစေခြင်း)မှ တားမြစ်ခဲ့ပြီး ဖြစ်ကြသည်မဟုတ်လောဟု ပြောဆိုကြလေသည်။

قَالَ هَٰٓؤُلَآءِ بَنَاتِىٓ إِن كُنتُمْ فَٰعِلِينَ ٧١

၇၁။ (ထိုအခါ) ယင်း(နဗီတမန်တော်)လူတ်က အကယ်၍ အသင်တို့သည် (ငါပြောဆိုသည့်အတိုင်း လိုက်နာ)ပြုလုပ်မည့်သူများ ဖြစ်ကြပါလျှင် ဤငါ၏ သမီးများသည် ရှိနေကြပေသည်ဟု ပြောဆိုခဲ့လေသည်။

لَعَمْرُكَ إِنَّهُمْ لَفِى سَكْرَتِهِمْ يَعْمَهُونَ ٧٢

၇၂။ (အို-နဗီတမန်တော် မုဟမ္မဒ်) အသင်၏ အသက်ဇီဝိန်၏ကစမ်၊ စင်စစ်ကေန် ၎င်းတို့သည် မိမိတို့ မာန်ယစ်မှု၌ပင် တွေဝေလျက် ရှိကြကုန်၏။

فَأَخَذَتْهُمُ ٱلصَّيْحَةُ مُشْرِقِينَ ٧٣

၇၃။ သို့ဖြစ်ပေရာ ၎င်းတို့အား ကျယ်လောင်သော အသံသည် နေထွက်ချိန်တွင် ဖမ်းဆီးကွပ်မျက်ခဲ့လေသည်။

فَجَعَلْنَا عَٰلِيَهَا سَافِلَهَا وَأَمْطَرْنَا عَلَيْهِمْ حِجَارَةً مِّن سِجِّيلٍ ٧٤

၇၄။ ထိုအခါ ငါအရှင်မြတ်သည် ထိုမြို့၏အထက်ပြင်ကိုအောက်ပြင် ပြုလုပ်တော်မူခဲ့လေသည်။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့အပေါ်၌ ရွှံ့စေးဖြင့် ပြုလုပ်သော ကျောက်ခဲများကို ရွာသွန်းစေတော်မူခဲ့လေသည်။

၇၅။ ကေန်မလွဲဧည်သည့်(အဖြစ်အပျက်)၌ စဉ်းစား ဆင်ခြင်တတ်သော သူတို့အဖို့ သက်သေလက္ခဏာ များသည် အမှန်ပင် ရှိပေသတည်း။

إِنَّ فِى ذَٰلِكَ لَءَايَٰتٍ لِّلْمُتَوَسِّمِينَ ۝٧٥

၇၆။ ထို့ပြင် ကေန်အမှန်ထို(မြို့ရွာ)သည် စည်ကား လျက်ရှိသောလမ်း၌ အမှန်ပင် တည်ရှိပေသည်။

وَإِنَّهَا لَبِسَبِيلٍ مُّقِيمٍ ۝٧٦

၇၇။ မလွဲကေန်ဧည်သည့်(အဖြစ်အပျက်)၌ မုအ်မင်န် သက်ဝင်ယုံကြည်သူတို့အဖို့ သက်သေလက္ခဏာသည် အမှန်ပင် ရှိပေသတည်း။

إِنَّ فِى ذَٰلِكَ لَءَايَةً لِّلْمُؤْمِنِينَ ۝٧٧

၇၈။ ထိုမှတပါး ကေန်အမှန် *"အိုင်ကဟ်" (တော အုပ်)*၌ နေထိုင်သောသူတို့သည်လည်း [၁] မတရား ကျူးလွန်သူများပင် ဖြစ်ခဲ့ကြကုန်၏။

وَإِن كَانَ أَصْحَٰبُ ٱلْأَيْكَةِ لَظَٰلِمِينَ ۝٧٨

၇၉။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ၎င်းတို့အား လက်စားချေတော်မူခဲ့၏။ ၎င်းပြင် ကေန်စင်စစ် ထို မြို့ရွာနှစ်ခုစလုံးသည် ထင်ရှားသောလမ်းပေါ်၌ အမှန် ပင် ရှိနေကြပေသည်။

فَٱنتَقَمْنَا مِنْهُمْ وَإِنَّهُمَا لَبِإِمَامٍ مُّبِينٍ ۝٧٩

၈၀။ ၎င်းပြင် မလွဲကေန် *"ဟစ်ဂျ်ရ်"*၌ နေထိုင်သော သူတို့သည်လည်း [၂] စေလွှတ်ခြင်း ခံခဲ့ရကုန်သော ရစူလ်တမန်တော်တို့အား မဟုတ်မမှန်ဟူ၍ ငြင်းပယ် ခဲ့ကြလေသည်။

وَلَقَدْ كَذَّبَ أَصْحَٰبُ ٱلْحِجْرِ ٱلْمُرْسَلِينَ ۝٨٠

---

(၁) "အတ်ဆွ်ဟာဗုလ် အိုင်ကဟ်"၏ အနက်မှာ တောအုပ်၌ နေထိုင်သူများဟူ၍ ဖြစ်သည်။ ၎င်းတို့သည် တမန်တော် ရှုအိုက်ဗ်၏ အမျိုးသားများဖြစ်ကြသည်။ ၎င်းတို့သည် မဒ်ယန်မြို့တွင် နေထိုင်ခဲ့ကြသည်။ မဒ်ယန်မြို့၏အနီးတွင် တောအုပ်တစ်ခုရှိသည်။ ၎င်းတို့အနက် အချို့သည် ထိုတောအုပ်တွင်လည်း နေကြပေမည်။ (ထိုတောအုပ်တွင် နေထိုင်ခဲ့ကြသည်ကို အကြောင်းပြု၍ ၎င်းတို့အား "အတ်ဆွ်ဟာဗုလ် အိုင်ကဟ်" တောအုပ်တွင်နေထိုင်သူများဟု ခေါ်ဝေါ်သမုတ်ထားတော်မူခြင်း ဖြစ်ပေသည်။)

အချို့က အိုင်ကဟ်သားများနှင့် မဒ်ယန်သားများသည် သီးခြားလူမျိုးနှစ်မျိုးဖြစ်ကြသည်။ ထိုလူမျိုး နှစ်မျိုးစလုံးထံသို့ တမန်တော် ရှုအိုက်ဗ် စေလွှတ်တော်မူခြင်း ခံခဲ့ရသည်ဟု ဆိုကြသည်။

وَاٰتَيْنٰهُمْ اٰيٰتِنَا فَكَانُوْا عَنْهَا مُعْرِضِيْنَ ﴿٨١﴾

၈၁။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ၎င်းတို့အား မိမိသက်သေလက္ခဏာတော်များကို ပေးသနားတော်မူခဲ့လေသည်။ သို့ပါလျက် ၎င်းတို့သည် ယင်းသက်သေလက္ခဏာတော်များမှ မျက်နှာလွှဲဖယ်သူများပင် ဖြစ်ခဲ့ကြကုန်၏။

وَكَانُوْا يَنْحِتُوْنَ مِنَ الْجِبَالِ بُيُوْتًا اٰمِنِيْنَ ﴿٨٢﴾

၈၂။ ထိုမှတပါး ၎င်းတို့သည် တောင်များကို အိမ်များအဖြစ် ဖောက်ထွင်း၍ ဘေးရန်ကင်းငြိမ်းစွာ နေထိုင် လေ့ ရှိခဲ့ကြကုန်၏။

فَاَخَذَتْهُمُ الصَّيْحَةُ مُصْبِحِيْنَ ﴿٨٣﴾

၈၃။ ထို့နောက် ၎င်းတို့အား နံနက်မိုးလင်းချိန်တွင် ကျယ်လောင်စွာသော အသံသည် ဖမ်းဆီးကွပ်မျက်ခဲ့လေသည်။

فَمَآ اَغْنٰى عَنْهُمْ مَّا كَانُوْا يَكْسِبُوْنَ ﴿٨٤﴾

၈၄။ ထိုအခါ ၎င်းတို့ ဆည်းပူးခဲ့သမျှတို့သည် ၎င်းတို့အဖို့ လုံးဝ အသုံးမဝင်ခဲ့ချေ။

وَمَا خَلَقْنَا السَّمٰوٰتِ وَالْاَرْضَ وَمَا بَيْنَهُمَآ اِلَّا بِالْحَقِّ ۭ وَاِنَّ السَّاعَةَ لَاٰتِيَةٌ فَاصْفَحِ الصَّفْحَ الْجَمِيْلَ ﴿٨٥﴾

၈၅။ စင်စစ်သော်ကား ငါအရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ထိုမြေနှင့်မြေစပ်ကြား၌ရှိရှိသမျှတို့ကိုလည်းကောင်း၊ (အကြောင်းမဲ့မဟုတ်) မှန်ကန်သော ရည်ရွယ်ချက်နှင့်တကွ ဖန်ဆင်းတော်မူခဲ့လေသည်။ ၎င်းပြင် ဧကန်မလွဲ (ငါ အရှင်မြတ် သတ်မှတ်ထားတော်မူသော) ကိယာမတ်သည် မုချ ဆိုက်ရောက်လာမည်ဖြစ်ပေသည်။ သို့ဖြစ်ပေရာ(အို-နဗီတမန်တော်) အသင်သည် (၎င်းတို့၏ နှောက်ယှက်မှုများကို) ကောင်းမွန်စွာ ခွင့်လွှတ်ခြင်းနည်းမျိုးနှင့် ခွင့်လွှတ်ပါလေ။

---

(၂) "အတ်ဆွ်ဟာဗုလ်ဟာစ်ဂျ်ရ်" ဟူသည် 'ဆမူဒ်' အမျိုးသားများကို ဆိုလိုသည်။ ၎င်းတို့ထံသို့ တမန်တော်ဆွာလိဟ် ပွင့်ရောက်တော်မူခဲ့လေသည်။ ဤကဏ္ဍကို ဤအမျိုးသားများ၏အမည်နှင့်ပင် မှည့်ခေါ်ထားတော်မူ၏။
ဆမူဒ်အမျိုးသားများ၏ အကြောင်းနှင့် တမန်တော်ဆွာလိဟ်၏ အတ္ထုပ္ပတ္တိကို ကုရ်အာန် (၇:၇၃)၏ အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။

إِنَّ رَبَّكَ هُوَ الْخَلَّٰقُ الْعَلِيمُ ﴿٨٦﴾

၈၆။ မလွဲဧကန် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည်၊ ထိုအရှင်မြတ်သည်ပင်လျှင် အရာခပ်သိမ်းတို့ကို ဖန်ဆင်းတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

وَلَقَدْ آتَيْنَاكَ سَبْعًا مِّنَ الْمَثَانِي وَالْقُرْآنَ الْعَظِيمَ ﴿٨٧﴾

၈၇။ ငှင်းပြင်ဧကန်မလွဲ ငါအရှင်မြတ်သည် အသင့်အား *အဖန်တလဲလဲ (ရွတ်ဖတ် သရဇ္ဈာယ်ရ)သော (အာယတ်တော်)ခုနစ်ပါးကို* [၁] လည်းကောင်း၊ ကြီးကျယ်မြင့်မြတ်လှစွာသော ကုရ်အာန်ကျမ်းတော်မြတ်ကိုလည်းကောင်း၊ ချီးမြှင့်ပေးသနားတော်မူခဲ့လေသည်။

---

(၁) ( سَبْعًا مِّنَ الْمَثَانِي ) "အဖန်တလဲလဲ ရွတ်ဖတ်ရသောအရာခုနစ်ခု" ဟူသည် အဘယ်နည်း။ ဤတွင် အဆိုပြားလျက်ရှိ၏။ သို့ရာတွင် အမှန်ဆုံးနှင့် အများကလက်ခံသော အဆိုအရ အဆိုပါ "အဖန်တလဲလဲ ရွတ်ဖတ်ရသောအရာခုနစ်ခု" ဟူသည် စူရဟ်ဖာတိဟဟ် = အဖွင့်ကဏ္ဍတွင် လာရှိသည့် အာယတ်တော် ခုနစ်ပါးကိုပင် ဆိုလိုသည်။ ထိုအာယတ်တော်ခုနစ်ပါးသည် ဆွလာတ်၏ "ရက်ကအတ်" တိုင်းတွင် ရွတ်ဖတ်ရသည်" ဆဒိုအာ၊ ဝဇီဖဟ်များသည်လည်း အဖန်တလဲလဲ ရွတ်ဖတ်ရသည်။ "အလ္လာဟ်အရှင်မြတ်သည် တောင်ရာတ်၊ အီနဂျီလ်၊ ဇဗူရ်၊ ကုရ်အာန်စသည့် ကျမ်းဂန်များအနက် မည်သည့်ကျမ်းဂန်တွင်မျှ ဤစူရဟ်ဖာတိဟဟ် အဖွင့်ကဏ္ဍကဲ့သို့သော ကဏ္ဍကို ထုတ်ပြန်ချမှတ်တော်မူခဲ့ချေ" ဟူ၍ ဟဒီးဆ်တော်များတွင် လာရှိပေသည်။

ခိုင်လုံသော ဟဒီးဆ်တော်များတွင် တမန်တော်မြတ်က "အဖန်တလဲလဲ ရွတ်ဖတ်ရသော အာယတ်တော် ခုနစ်ပါးတည်းဟူသော မြင့်မြတ်သော ကုရ်အာန်ကျမ်းမြတ်ကို ကျွန်ုပ်ချီးမြှင့်ခြင်းခံရသည်။ ထိုအာယတ်တော် ခုနစ်ပါးသည် ဤအဖွင့်ကဏ္ဍပင်ဖြစ်သည်" ဟု မိန့်ကြားတော်မူခဲ့လေသည်။

ဤမျှသေးငယ်တိုတောင်းလှသော အဖွင့်ကဏ္ဍကို "မြင့်မြတ်သော ကုရ်အာန်ကျမ်းမြတ်" ဟူ၍ သုံးနှုန်းထားတော်မူခြင်းမှာ အဆင့်အတန်းအားဖြင့် မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။ ဤသည့်သဘောဖြင့် ဤကဏ္ဍကို ( ام القرآن ) "ကုရ်အာန်ကျမ်းမြတ်၏အမိ" ဟူ၍ သုံးနှုန်းထားတော်မူခြင်းဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ဤကဏ္ဍသည် တစ်နည်းအားဖြင့် ကုရ်အာန်ကျမ်းမြတ် တစ်စောင်လုံး၏ အချုပ်၊ အခြေအမြစ်ဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ် တစ်စောင်လုံးသည် ဤကဏ္ဍ၏အဖွင့်ဖြစ်သည်။ အချုပ်အားဖြင့် ဆိုရသော် ကုရ်အာန်ကျမ်းမြတ် တစ်စောင်လုံး၏ အာဘော်သည် ဤကဏ္ဍတွင် အကျုံးဝင်လျက်ရှိပေသည်။

( مثانی ) "မဆာနီ" ဟူသောပုဒ်ကို တစ်နည်းအားဖြင့် ကုရ်အာန်ကျမ်းမြတ် တစ်စောင်လုံးအတွက်လည်း သုံးနှုန်းထားတော်မူသည်။ ကုရ်အာန်ကျမ်းမြတ် (၃၉း၂၃)တွင် ( اللَّهُ نَزَّلَ أَحْسَنَ الْحَدِيثِ كِتَابًا مُّتَشَابِهًا مَّثَانِيَ ) ဟူ၍လာရှိတော်မူ၏။ အခြားခြားသော ကဏ္ဍများကိုလည်း အခြားခြားသော အကြောင်းအမျိုးမျိုးတို့ဖြင့် "မဆာနီ" ဟူ၍ ခေါ်ဆိုသုံးနှုန်းနိုင်ပေသည်။ သို့တစေလည်း ဤနေရာတွင် ➤➤

**၈၈။** ငါအရှင်မြတ်သည် ယင်း(ကာဖိရ်)တို့အနက် မှ၊အမျိုးမျိုးအစားစားတို့အား အကျိုးခံစားခွင့်ပေးတော် မူသော ဥစ္စာပစ္စည်းများဘက်သို့ (မိမိ၏မျက်စိအစုံဖြင့် မော်၍ပင် မကြည့်ပါလေနှင့်)။ *မိမိမျက်စိနှစ်လုံးကို လှည့်၍ပင် အသင်မကြည့်ပါလေနှင့်။* ၁ ထိုမှတပါး အသင်သည် ၎င်းတို့နှင့် ပတ်သက်၍ ဝမ်းနည်းပူဆွေး ခြင်းကိုလည်း မပြုပါလေနှင့်။ ၂ ထိုပြင် အသင်သည် မိမိပခုံးကို မုအ်မင်န် သက်ဝင်ယုံကြည်သူတို့အဖို့ နှိမ့်ချပါလေ၊ (ဝါ-၎င်းတို့အား သနားကြင်နာပါလေ)။

لَا تَمُدَّنَّ عَيْنَيْكَ إِلَىٰ مَا مَتَّعْنَا بِهِۦٓ أَزْوَٰجًا مِّنْهُمْ وَلَا تَحْزَنْ عَلَيْهِمْ وَٱخْفِضْ جَنَاحَكَ لِلْمُؤْمِنِينَ ﴿٨٨﴾

**၈၉။** ထိုမှတပါး အသင်သည် (ယင်းကာဖိရ် သွေ ဖည်ငြင်းပယ်သူတို့အား)ဧကန်အမှန်ငါသည် ထင်ရှား စွာသော သတိပေးနှိုးဆော်သူပင် ၃ ဖြစ်သည်ဟု (အတိအလင်း) ပြောကြားလေလော့။

وَقُلْ إِنِّىٓ أَنَا ٱلنَّذِيرُ ٱلْمُبِينُ ﴿٨٩﴾

---

➤➤ ( سَبْعًا مِّنَ الْمَثَانِىْ وَالْقُرْاٰنَ الْعَظِيْمَ ) "အဖန်တလဲလဲ ရွတ်ဖတ်ရသော အာယတ်တော်ခုနစ်ပါးနှင့် မြင့်မြတ်သာ ကုရ်အာန်"ဟူသည် ဤအဖွင့်ကဏ္ဍကိုသာ ဆိုလိုသည်။ အွတ်ဆ်မာနီ။ စ-၃၄၅။ အအ-၁၄။

① မုရှ်ရစ်က်၊ ယဟူဒီ၊ နတ်ဆွဲရာနီစသည့် အစ္စလာမ်၏ ရန်သူများသည်လည်း ဤသခင်္ါရပစ္စက္ခဘဝ၌ ယာယီအားဖြင့် အနည်းငယ် လောကီစည်းစိမ်များ ရရှိကြပေသည်။ ထိုသည့်စည်းစိမ်များကို တမန်တော်မြတ် သည် မော်၍ကြည့်ရန်ပင် မလိုပေ။ ယင်းသူမိုက်တို့သည် ထိုသည့် လောကီစည်းစိမ်များကို ခေတ္တရရှိထားခြင်း အားဖြင့် ပို၍ပင် ဆိုးသွမ်းမိုက်မဲကြပေမည်။ သို့ဖြစ်ရာ ယင်း ကာဖိရ်၊ မုရှ်ရစ်က်တို့သည် ခေတ္တခဏ လောကီစည်းစိမ်များတွင် နစ်မွန်းနေကြပါစေ။

အလ္လာဟ်အရှင်မြတ်သည် အသင်မွတ်စ်လင်မ်တို့အား အတိုင်းမသိ အလွန်ကြီးမားလှသည့် ကုရ်အာန် ကျမ်းမြတ်တည်းဟူသော ဆုလာဘ်ကို ချီးမြှင့်ထားတော်မူသည်။ ထိုသည့် ကုရ်အာန်ကျမ်းမြတ်၏ရှေ့တွင် အခြားလောကီ ဥစ္စာပစ္စည်းများသည် အသို့မျှတန်ဖိုးမရှိပေ။

ဟဒီးဆ်တော်များတွင်လာရှိသည်မှာ- "အကြင်သူတဦးသည် ကုရ်အာန်ကျမ်းမြတ်ကို ချီးမြှင့်ခြင်း ခံရပါလျက် အခြားလောကီစည်းစိမ် တစ်စုံတစ်ရာကို မက်မောသေးပါက ထိုသူသည် အကြီးကိုအငယ်၊ အငယ်ကို အကြီးလုပ်သည် ဟူ၍လာရှိ၏။

② တမန်တော်မြတ်သည် ယင်းကာဖိရ်၊ မုရှ်ရစ်က်များနှင့်ပက်သက်၍ ၎င်းတို့သည် အဘယ်ကြောင့်များ မွတ်စ်လင်မ် မဖြစ်ကြပါလိမ့်ဟု တွေးတောပူဆွေးနေရန်မလိုပေ။ မိမိ၏တာဝန်ကိုသာ ကျေပွန်စွာ ထမ်းဆောင်လျက် ရှိနေရန်လိုပေသည်။ သနားကြင်နာ ထောက်ထားညှာတာအပ်သူများမှာ (ဆင်းရဲနွမ်းပါးသော) မွတ်စ်လင်မ်များသာ ဖြစ်ကြပေသည်။

كَمَآ أَنزَلْنَا عَلَى الْمُقْتَسِمِينَ ﴿٩٠﴾

**၉၀။** ငါအရှင်မြတ်သည် ကျိန်တွယ်သော (ခွဲဝေသော)သူတို့အပေါ်၌ (ပြစ်ဒဏ်) ချပေးတော်မူသကဲ့သို့ပင် (၎င်းတို့အပေါ်လည်းချပေးတော်မူမည်၊)

الَّذِينَ جَعَلُوا الْقُرْآنَ عِضِينَ ﴿٩١﴾

**၉၁။** အကြင်သူတို့သည်၊ ထိုသူတို့သည် ကုရ်အာန်ကျမ်းတော်မြတ်ကို အစိတ်အစိတ် အပိုင်းပိုင်း ပြုလုပ်ခဲ့ကြလေသည်။ ၁

---

(၇) မည့်သူမည်ဝါနာခံသည်ဖြစ်စေ၊ မနာခံသည်ဖြစ်စေ အလ္လာဟ်အရှင်မြတ်၏ အမိန့်ပညတ်တော်များကို ပြတ်သားစွာဟောကြား၍ သွေဖည် ငြင်းဆန် မနာခံမှုများကြောင့် ဖြစ်ပေါ်လာမည့် ဘေးအန္တရာယ်များကိုလည်း ပွင့်လင်းစွာ သတိပေးရမည်သာဖြစ်သည်။

စိတ်နှလုံးကို လှည့်ပေးခြင်းသည် တမန်တော်မြတ်၏ အလုပ်မဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ အလုပ်သာဖြစ်သည်။ ထို့အတွက် တစ်ဦးတစ်ယောက်၏ အီမာန်မယုံကြည်မှုကြောင့် စိတ်ဆင်းရဲတော်မူရန် မလိုပေ။

(၁) ဤအာယတ်တော်နှင့် စပ်လျဉ်း၍ "မုဖတ်စ်စစ်ရီ" များသည် အနက်အမျိုးမျိုး ဖွင့်ဆိုထားကြသည်ကို တွေ့ရှိရသည်။

**ထာနဝီသခင်၏အဖွင့်။**

အတိတ်ခေတ်တွင် အချို့သူများသည် ကျမ်းဂန်လာ ဒေသနာတော်များအနက် မိမိတို့အာသာဆန္ဒနှင့် ကိုက်ညီသောအရာကို လက်ခံခဲ့ကြ၏။ မိမိတို့အာသာဆန္ဒနှင့် မကိုက်ညီသော အရာကိုမူ ငြင်းပယ်ခဲ့ကြ၏။ ထိုသူများမှာ အတိတ်ခေတ် ယဟူဒီ၊ နဆွဲရာနီများကို ဆိုလိုသည်။

၎င်းတို့သည် မိမိတို့တမန်တော်များ၏ အဆုံးအမ ဩဝါဒများကို သွေဖည်ငြင်းဆန် မနာခံခဲ့ကြသည့်အတွက် ၎င်းတို့အနက်အချို့ မျောက်တိရစ္ဆာန်များ ဖြစ်သွားခဲ့ကြရလေသည်။ အချို့ဝက်တိရစ္ဆာန်များ ဖြစ်သွားခဲ့ကြလေသည်။ အချို့အသတ်ခံခဲ့ကြရလေည်။ အချို့ချုပ်နှောင်ဖမ်းဆီးခြင်း ခံခဲ့ကြရလေသည်။ ဤသည်တို့ကား သမိုင်းစဉ်အထင်အရှားပင်။

ဆိုလိုသည်ကား တမန်တော်မြတ်မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) သတိပေးနေတော်မူသည့် ပြစ်ဒဏ်တော်မှာ အထူးအဆန်းမဟုတ်၊ မဖြစ်နိုင်သောအရာလည်း မဟုတ်၊ ထိုသို့သော ပြစ်ဒဏ်မျိုးသည် အတိတ်ခေတ်များတွင် အကြိမ်ကြိမ် သက်ရောက်ခဲ့ဖူးချေပြီ။

(တမန်တော်မြတ်လက်ထက်တော်ရှိ ကာဖိရ်များ သည်လည်း အတိတ်ခေတ်ယဟူဒီ၊ နဆွဲရာနီများကဲ့သို့ ကျမ်းဂန်လာ ဒေသနာတော်များအနက် မိမိတို့ အာသာဆန္ဒ နှင့် ကိုက်ညီလျှင် လက်ခံ၍ မကိုက်ညီလျှင် ငြင်းပယ်နေကြပေရာ)၊ ၎င်းတို့အပေါ်၌လည်း ပြစ်ဒဏ်တော် သက်ရောက်ပါက အံ့ဩဖွယ်ရာ မဟုတ်ပေ။

ဤအာယတ်တွင်ပါရှိသည့် "ကုရ်အာန်" ဟူသော ပုဒ်သည် အဘိဓာန်သဘောအရ ကောင်းကင်ကျ ကျမ်းဂန်ဟူသော အနက်၌ဖြစ်သည်။ တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာ အလိုင်ဟိဝစ္စလ္လမ်)ထံသို့ ထုတ်ပြန်ချမှတ်ထားတော်မူသည့် ကုရ်အာန်ကျမ်းမြတ်ကို ဆိုလိုသည်မဟုတ်ပေ။ ထာနဝီ။ အ-၆။ စ-၃၃။ ➤➤

فَوَرَبِّكَ لَنَسْـَٔلَنَّهُمْ أَجْمَعِينَ ﴿٩٢﴾

၉၂။ သို့ဖြစ်ပေရာ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ 'ကစမ်'၊ စကေန်အမှန်ငါအရှင်မြတ်သည် ၎င်းတို့အားလုံးကို မုချ စစ်ဆေးမေးမြန်းတော်မူမည်။

عَمَّا كَانُوا يَعْمَلُونَ ﴿٩٣﴾

၉၃။ ၎င်းတို့ ကျင့်မူလျက် ရှိခဲ့ကြကုန်သော အမှုကိစ္စများနှင့်စပ်လျဉ်း၍။

فَاصْدَعْ بِمَا تُؤْمَرُ وَأَعْرِضْ عَنِ الْمُشْرِكِينَ ﴿٩٤﴾

၉၄။ သို့ဖြစ်ပေရာ အသင်သည် မိမိအမိန့်ပေးခြင်းခံရသော အကြောင်းအရာကို *အတိအလင်း ကြေညာပါလေ။* [၁] ၎င်းပြင် အသင်သည် မုရှ်ရစ်က် (အခြားအရာများကို အလ္လာဟ်အရှင်မြတ်နှင့်တွဲဖက်ကိုးကွယ်သောသူ)တို့အား (အလျှင်းဂရုမစိုက်ဘဲ) လျစ်လျူရှု၍ထားပါလေ။

---

➤➤ **မာဂျိဒီ၏အဖွင့်။**

(مقتسمين) "မွတ်က်တစိမီန်" ဟူသောပုဒ်သည် (قَسَم) "ကစမ်" ဟူသော မူရင်းပုဒ်မှ ဆင်းသက်လာ၏။ ယင်းပုဒ်၏ အဓိပ္ပာယ်မှာ ကျိန်ဆိုသူများ၊ သစ္စာဆိုသူများဟူ၍ ဖြစ်သည်၊ ဆိုလိုသည်ကား အစ္စလာမ့် ရန်သူများသည် တမန်တော်မြတ်အား ဆန့်ကျင်ရန်အတွက် မက္ကာမြို့တွင် အချင်းချင်း ကျိန်ဆိုထားခဲ့ကြ၏။ သစ္စာဆိုထားခဲ့ကြ၏ဟူ၏။ မာဂျိဒီ အအ-၃။ စ-၅၄။ အအ-၁၆၂။

**အွတ်ဆ်မာနီ၏အဖွင့်။**

"မတ်က်တစိမီန်" ခွဲဝေသူများ၏ အလိုသဘောမှာ တမန်တော်မြတ်လက်ထက်ရှိ ယဟူဒီ၊ နဆွ်ရာနီစသည်တို့ကို ဆိုလိုသည်။ ၎င်းတို့သည် ကုရ်အာန်ကျမ်းမြတ်ကို ခွဲဝေစိတ်ပိုင်းထားကြ၏။ ဆိုလိုသည်ကား ကုရ်အာန်ကျမ်းလာ ဒေသနာတော်သည် ၎င်းတို့၏ အလိုဆန္ဒနှင့်သော်လည်းကောင်း၊ ၎င်းတို့ ကပြောင်းကပြန် ပြုလုပ်ထားသည့် ၎င်းတို့၏ ကျမ်းချက်များနှင့်သော်လည်းကောင်း ကိုက်ညီပါက ထိုသို့သော ကုရ်အာန်ကျမ်းလာ ဒေသနာကိုလိုက်နာကြသည်။ မကိုက်ညီပါက မလိုက်နာကြပေ။

အလိုသဘောမှာ အလ္လာဟ်အရှင်မြတ်သည် ယင်းယဟူဒီ၊ နဆွ်ရာနီများထံသို့ ယခင်က ကျမ်းဂန်များကို ထုတ်ပြန်ချမှတ်တော်မူသကဲ့သို့ တမန်တော်မြတ် ထံသို့လည်း အဖန်တလဲလဲ ရွတ်ဖတ်ရသော အာယတ်တော်ခုနစ်ပါးနှင့် မြင့်မြတ်သော ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ချမှတ်တော်မူ၏။ ဤသည် အထူးအဆန်းမဟုတ်ပေ။ ငြင်းဆန်ရန်လည်းမဟုတ်ပေ။

(၁) တမန်တော်မြတ်သည် အစ္စလာမ်သာသနာ ထွန်းကားခါစအချိန်တွင် အစ္စလာမ်သာသနာကို လျှို့ဝှက်ဟောကြားခဲ့ရပေသည်။ ဤအမိန့်တော် ကျရောက်လာသောအခါကျမှ တမန်တော်မြတ်နှင့်တကွ ဆွဟာဗဟ်သာဝကကြီးများ ပွင့်လင်းစွာဟောကြားခဲ့ကြလေသည်။ ➤➤

إِنَّا كَفَيْنَٰكَ ٱلْمُسْتَهْزِءِينَ ﴿٩٥﴾

၉၅။ ဧကန်မလွဲ ငါအရှင်မြတ်သည် ပြက်ရယ်သမှု ပြုကြသူတို့နှင့် ယှဉ်ပြိုင်ရန် အသင့်အဖို့ လုံလောက်တော်မူ၏။

ٱلَّذِينَ يَجْعَلُونَ مَعَ ٱللَّهِ إِلَٰهًا ءَاخَرَ ۚ فَسَوْفَ يَعْلَمُونَ ﴿٩٦﴾

၉၆။ အကြင်သူတို့သည် အလ္လာဟ်အရှင်မြတ်နှင့် အတူ အခြားကိုးကွယ်ရာများကို (တွဲဖက် ကိုးကွယ်ခြင်းကို)ပြုလုပ်ကြကုန်၏။ သို့ဖြစ်ပေရာ ၎င်းတို့သည် မကြာမြင့်မီ (မိမိတို့ပြုလုပ်ခဲ့ကြသော ရှုရစ်က်၏ အကျိုးကို) သိရှိကြပေမည်။

وَلَقَدْ نَعْلَمُ أَنَّكَ يَضِيقُ صَدْرُكَ بِمَا يَقُولُونَ ﴿٩٧﴾

၉၇။ ထိုမှတပါး ဧကန်စင်စစ် ၎င်းတို့၏ ပြောဆိုမှုကြောင့် အသင်၏ စိတ်နှလုံးကျဉ်းကျပ်သည်ကို ဧကန်မုချ ငါအရှင်မြတ်သည် ကောင်းစွာ သိရှိတော်မူပေသည်။

فَسَبِّحْ بِحَمْدِ رَبِّكَ وَكُن مِّنَ ٱلسَّٰجِدِينَ ﴿٩٨﴾

၉၈။ သို့ဖြစ်ပေရာ အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ကို ချီးမွမ်းထောမနာပြုခြင်းနှင့်အတူ (ထိုအရှင်မြတ်၏)ဂုဏ်တော်ကိုလည်း ထင်ရှားစေပါလေ။ ၎င်းပြင် အသင်သည် (ထိုအရှင်မြတ်အား) ပျပ်ဝပ် ဦးချသူတို့တွင် အပါအဝင် ဖြစ်ပါလေ။ [၁]

---

➤➤ သာဝကကြီး အဗ်ဒုလ္လာဟ် အီဗ်နူမတ်စ်အူဒ်က ပြောပြသည်မှာ တမန်တော်မြတ်သည် (အစပထမတွင်) လျှို့ဝှက်စွာ ဟောပြောနေတော်မူခဲ့၏။ ကုရ်အာန်ကျမ်းလာ အာယတ်တော် (၁၅း၉၄)ကျရောက်လာသည့် အခါကျမှ ပွင့်လင်းစွာ ဟောကြားလာတော်မူခဲ့ပေသည်။ ဒုရ်ရီမန်ဆူရ်၊ အ-၄။ စ-၁၀၆။

(၁) ဤအာယတ်တော်တွင် တမန်တော်မြတ်အား နှစ်သိမ့်စေထားတော်မူ၏။ တမန်တော်မြတ်သည် ကာဖိရ်၊ မုရှိရစ်ကဲ၏ နှောင့်ယှက်မှုများကြောင့် စိတ်ကျဉ်းကျပ်တော်မူ၏။ ထိုအခါ ၎င်းတို့ဘက်မှ စိတ်အာရုံပြောင်း၍ တစ်စိတ်တစ်လက်တည်း အလ္လာဟ်အရှင်မြတ် ဂုဏ်တော်မွမ်းရန်၊ ထိုအရှင်မြတ်အားဝတ်ပြုရန် တမန်တော်မြတ်အား မိန့်ကြားထားတော်မူသည်။ အဘယ်ကြောင့်ဆိုသော် ယင်းသို့ ဂုဏ်တော်မွမ်းခြင်း၊ ဝတ်ပြုခြင်းဖြင့် စိတ်နှလုံး ကြည်နူး ရွှင်လန်းသွားပေသည်။ အပူအပင် သောကများကင်းဝေးသွားလေသည်။ ထို့အတွက်ကြောင့်လည်း တမန်တော်မြတ်သည် ဒုက္ခကြီးငယ်များနှင့် တွေ့ကြုံရသည့် အခါတိုင်းတွင် ဆောလျင်စွာ ➤➤

وَاعْبُدْ رَبَّكَ حَتّٰى يَأْتِيَكَ الْيَقِيْنُ ﴿٩٩﴾

၉၉။ ထိုမှတပါး အသင်သည် မိမိထံသို့ မုချမလွဲ ဖြစ်မည့် ကိစ္စ (ဝါ) မရဏသေခြင်းတရား ဆိုက် ရောက်လာသည့်တိုင်အောင် မိမိအား ဖန်ဆင်းမွေးမြူ တော်မူသောအရှင်မြတ်ကို ဝတ်ပြုနေပါလေ။ [၁]

➤➤ ဆွာလာတ် ဝတ်ပြုတော်မူလေ့ရှိသည်။ (ဆွလာတ်ဝတ်ပြုခြင်းဖြင့် စိတ်ဓာတ်ကြည်လင်ခြင်း။ ပူပန်သောက ကင်းစင်ခြင်းတို့မှာ မျက်မြင်ကိုယ်တွေ့ပင်)။

(၁) ဤအာယတ်တော်တွင် (يقين) "ယကီန်" ဟူသည် သေခြင်းတရားကိုသာ ဆိုလိုသည်။ ကုရ်အာန်ကျမ်းမြတ် (၇၄း၄၂-၄၇)တွင် လာရှိသည့်အတိုင်း ဂျဟန္နမ်သားများသည် မိမိတို့ ဆိုးမိုက်မှုများတွင် နစ်မွန်းနေခဲ့ကြသည့် အကြောင်းကို ပြောဆိုရာတွင် (حَتّٰى اَتٰىنَا الْيَقِيْنُ) "ကျွန်ုပ်တို့ထံသို့ သေခြင်းတရား ရောက်လာသည့် တိုင်အောင်" ဟု ပါရှိသည်။ ဤအာယတ်တော်တွင်လည်း "ယကီန်" ဟူသောပုဒ်ကို သေခြင်းအနက်၌ပင် သုံးထားတော်မူသည်။ သာဝကကြီး အုဆ်မာန် အိဗ်နုမတ်ဇ်အူန် ကွယ်လွန်သေဆုံးကြောင်း ပါရှိသည့် ဟဒီးဆ် သြဝါဒတော်တွင်လည်း ဤ "ယကီန်" ဟူသောပုဒ်ကို သေခြင်းအနက်၌ သုံးထားသည်။ မုဖတ်စ်စစ်ရ် ဖြစ်ခဲ့ကြကုန်သော ဆွဟာဗဟ်များ၊ တာဗိအိန်များကလည်း ဤအတိုင်း ယူဆခဲ့ကြပေသည်။

# ပျားကောင် ကဏ္ဍ

سُوْرَةُ النَّحْلِ

ဤကဏ္ဍသည် "စူရဟ်နဟ်လ်" မည်၏၊ မက္ကမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော်(၁၂၈)၊ ရုကူအ်အပိုဒ် (၁၆)အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

မပြတ်မစဲသနားကြင်နာတော်မူသော၊
မဟာကရုဏာတော်ရှင်ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့်အစပြုပါ၏။

اَتٰۤى اَمْرُ اللّٰهِ فَلَا تَسْتَعْجِلُوْهُ ؕ سُبْحٰنَهٗ وَتَعٰلٰى عَمَّا يُشْرِكُوْنَ ①

၁။ အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်သည် ရောက်ရှိလာခဲ့ချေပြီ။သို့ဖြစ်ပေရာအသင်တို့သည် ယင်း *အမိန့်တော်ကိုအလျင်စလိုမတောင်းကြကုန်လင့်။* [၁] ထိုအရှင်မြတ်သည် ယင်း (မုရှ်ရစ်က်)တို့ တွဲဖက်နှိုင်းယှဉ် ကိုးကွယ်လျက် ရှိကြသည်တို့မှ သန့်ရှင်း *စင်ကြယ် မြင့်မြတ် လှတော်မူပေသတည်း။* [၂]

---

(၁) "တမန်တော်မြတ်၏ နောက်လိုက်တပည့်များသည် အောင်နိုင်လွှမ်းမိုးကြမည်၊ အမှန်တရားကို ဆန့်ကျင်သောသူများ ရှုံးနိမ့်ကြမည်။ အမှန်တရားကို ဆန့်ကျင်သောသူများသည် ဤပစ္စက္ခဘဝတွင် မွတ်စ်လင်မ် မုဂျာဟစ်ဒ်တို့၏ လက်ချက်ဖြင့် သေကြေပျက်စီးကြရမည်။ နောင်တမလွန်ဘဝတွင် မိမိတို့၏ ကုဖ်ရ်၊ ရှရစ်က်မှုတို့ကြောင့် ဂျဟန္နမ်ငရဲသို့ လားကြရမည်ဖြစ်သည်" ဟူသော အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဆိုက်ရောက်ရန် အချိန်သည် နီးကပ်လာချေပြီ။ ကိယာမတ်ဖြစ်ရန် အချိန်လည်းမဝေးပြီ။ မုချရောက်ရှိလာမည့် အရာတစ်ခုကို ရောက်ရှိပြီးဖြစ်သည်ဟူ၍ပင် မှတ်ယူထားရမည်ဖြစ်သည်။ သို့ဖြစ်ပေရာ ယင်းကဲ့သို့မုချရောက်ရှိလာမည့်အရာကို အလျင်စလိုတောင်းဆိုရန်ပင် မလိုပေ။

ကာဖိရ်၊ မုရှ်ရစ်က်တို့က တမန်တော်မြတ်အား "အသင်ပြောဆို ခြိမ်းခြောက်နေသည့် ပြစ်ဒဏ်နှင့် ကိယာမတ်သည် ယခုတိုင် အဘယ်ကြောင့် ရောက်ရှိမလာသေးသနည်း" ဟု ပြက်ချော်ပြောင်လှောင်သည့် သဘောဖြင့် မေးမြန်းမူခဲ့ကြ၏။ ဤအာယတ်တော်တွင် ယင်းသို့သော ကာဖိရ်တို့အား ရည်ညွှန်းဖြေကြားတော်မူသည်မှာ "အို-ကာဖိရ်အပေါင်းတို့၊ အသင်တို့ ဤသို့ပြက်ရယ်သမှု ပြုခြင်းဖြင့် ပြစ်ဒဏ်တော်နှင့် ကိယာမတ်နေ့သည် ရွှေ့ပါးသွားမည်မဟုတ်။ မကြာမီအတွင်း မုချဆိုက်ရောက်မည်သာ ဖြစ်သည်။ ယခုကဲ့သို့ အချိန်အနည်းငယ် ကြန့်ကြာနေခြင်းသည် အသင်တို့အဖို့ အကောင်းပင်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ဤသည့်အတောအတွင်း အသင်တို့အနက် အချို့တို့သည် ဝန်ချတောင်းပန်၍ မိမိတို့အမှားကို ပြင်နိုင်စွမ်းရရှိသွားနိုင်ပေသည်။

(၂) အထက်တွင် ပါရှိသည့်အတိုင်း တောင်ဟီးဒ်ကို လိုက်နာကျင့်မူသော မွတ်စ်လင်မ်တို့သည် လွှမ်းမိုးကြမည်မှာ မုချဖြစ်၏။ ကာဖိရ်၊ မုရှ်ရစ်က်တို့သည် ကုဖ်ရ်၊ ရှရစ်က်မှုများကြောင့် ပြစ်ဒဏ်ခံရကြရမည်မှာလည်း ➤➤

يُنَزِّلُ الْمَلٰٓئِكَةَ بِالرُّوْحِ مِنْ اَمْرِهٖ عَلٰى مَنْ يَّشَآءُ مِنْ عِبَادِهٖٓ اَنْ اَنْذِرُوْٓا اَنَّهٗ لَآ اِلٰهَ اِلَّآ اَنَا فَاتَّقُوْنِ ۝٢

၂။ ထိုအရှင်မြတ်သည် မိမိ၏အမိန့်တော်ဖြင့် မိမိကျွန်များအနက်မှ အလိုရှိတော်မူသော သူများထံ *မလာအိကဟ် ကောင်းကင်တမန်များအား* [၁] *ဝဟ်ယ် အမိန့်တော်နှင့်တကွ* [၂] ဆင်းသက် (လာရောက်) စေတော်မူ၏။ [၃] (ထိုအမိန့်တော်မှာ) "အသင် (နဗီတမန်တော်)တို့သည် ဧကန်စင်စစ် ငါအရှင်မြတ်မှတပါး၊ အခြားကိုးကွယ်ရာ အလျှင်းမရှိရာ၊ ငါအရှင်မြတ်အားသာလျှင် ကြောက်ရွံ့ကြရမည်ဟု သတိပေးနှိုးဆော်ကြလေကုန်" (ဟူ၍ဖြစ်သည်)။ [၄]

>> မုချဖြစ်၏။ သို့ဖြစ်ပေရာ တောင်ဟီးဒ်ကိုလက်ခံနာယူ၍ ကုဖ်ရ်၊ ရှရစ်က်အမှုတို့ကို လုံးဝရှောင်ကြဉ်ရန်သာရှိပေသည်။ ကာဖိရ်၊ မုရှ်ရစ်က်တို့ ဆည်းကပ်ကိုးကွယ်နေကြသော အရာများသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို အလျှင်း ပယ်ဖျက်နိုင်သည်လည်း မရှိ။ ထိုအရှင်မြတ်၏ ပြစ်ဒဏ်တော်ကို ကာကွယ်ပေးနိုင်သည်လည်း အလျှင်းမရှိ။

(၁) ဤအာယတ်တော်တွင် လာရှိသည့် "အလ်မလာအိကဟ်" ကောင်းကင်တမန်များဟူသည် ကောင်းကင်တမန်များ၏အမျိုးအစားများအနက် အချို့ကို ဆိုလိုသည်၊ ဥပမာ– ကောင်းကင်တမန် ဂျစ်ဗ်ရလ်၊ သို့မဟုတ် ဝဟီကို ထိန်းသိမ်းစောင့်ရှောက်သော ကောင်းကင်တမန်များကို ဆိုလိုသည်။ ဝဟီကို အချို့ ကောင်းကင်တမန်များက ထိန်းသိမ်းစောင့်ရှောက်ရကြောင်း ကုရ်အာန်ကျမ်းမြတ်(၇၂း၂၇-၂၈)တွင် မိန့်ဆိုထားတော်မူသည်။ အွတ်ဆ်မာနီ။

(၂) ဤအာယတ်တော်တွင် "ရူဟ်" ဟူသည် အလ္လာဟ်အရှင်မြတ်ထံတော်မှ တမန်တော်များထံသို့ လျှို့ဝှက်စွာ ပို့ချတော်မူသည့် ထိုအရှင်မြတ်၏ ဝဟီကိုဆိုလိုသည်။ ဤသည့်သဘောအတိုင်း ကုရ်အာန် ကျမ်းမြတ်(၄၀း၁၅)တွင် မိန့်ဆိုထားတော်မူသည်။

ကုရ်အာန် ကျမ်းမြတ် (၄၂ : ၅၂)တွင် ကုရ်အာန် ကျမ်းမြတ်ကို "ရူဟ်" ဟူ၍ သုံးနှုန်းထားတော်မူသည်။ ကုရ်အာန် ကျမ်းမြတ်ကို လည်းကောင်း၊ အလ္လာဟ် အရှင်မြတ်၏ ဝဟီများကို လည်းကောင်း "ရူဟ်" ဟူ၍ သုံးနှုန်း ထားတော်မူခြင်းမှာ အထည်ကိုယ်ဝါရှိသောအရာများတွင် ဝိညာဉ်ကို သွင်းလိုက်သည့်အခါ ထိုအရာများ အသက်ရှင်လာဘိသကဲ့သို့ မိုက်မဲမှု၊ လမ်းမှားမှုစသည့် ရောဂါများကြောင့် သေနေသော စိတ်နှလုံးများသည်လည်း အလ္လာဟ် အရှင်မြတ်၏ ဝဟီတည်းဟူသော ဝိညာဉ်ကို ရရှိကြသောအခါ အသက်ရှင်၍ လာကြပေသည်။

(၃) အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ကျွန်များအနက် မိမိအလိုရှိတော်မူသော သူများထံသို့ ကောင်းကင်တမန်များကို စေလွှတ်၍ ဝဟီပို့ချတော်မူ၏ဟု မိန့်ဆိုထားတော်မူခြင်းမှာ ကာဖိရ်များ၏ စောဒနာတစ်ရပ်ကို ဖြေကြားထားတော်မူခြင်းပင်ဖြစ်သည်။ ကာဖိရ်များက အကယ်၍ အလ္လာဟ်အရှင်မြတ်သည် နဗီတမန်တော်တစ်ပါးရွေးချယ်ရန်ရှိပါက အဗ်ဒုလ္လာဟ်၏သား မုဟမ္မဒ်ကိုပင် ရွေးချယ်လေသလော၊ မက္ကာမြို့နှင့် တွာအစ်ဖ်မြို့တွင် ခေါင်းဆောင်ကြီး၊ငယ်များ သေကုန်ကြပြီလောဟု စောဒနာဝင်ခဲ့ကြ၏။



خَلَقَ السَّمٰوٰتِ وَالْاَرْضَ بِالْحَقِّ تَعٰلٰى عَمَّا يُشْرِكُوْنَ ③

၃။ ထိုအရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ မှန်ကန်သော ရည်ရွယ်ချက်နှင့်တကွ ဖန်ဆင်းတော်မူခဲ့လေသည်။ ၁ ထိုအရှင်မြတ်သည် ၎င်းတို့ တွဲဖက်နိုင်းယှဉ် ကိုးကွယ်လျက်ရှိကြသည်တို့ထက် မြင့်မြတ်လှတော် မူပေသတည်း။

خَلَقَ الْاِنْسَانَ مِنْ نُّطْفَةٍ فَاِذَا هُوَ خَصِيْمٌ مُّبِيْنٌ ④

၄။ ထိုအရှင်မြတ်သည် လူသားကို ကလလရေကြည်တစ်စက်ဖြင့် ဖန်ဆင်းတော်မူခဲ့လေသည်။ သို့ဖြစ်ပါလျက် ၎င်းတို့သည် ရုတ်တရက် ထင်ရှားသော အန်တုသူ ဖြစ်လာ၏။

وَالْاَنْعَامَ خَلَقَهَا لَكُمْ فِيْهَا دِفْءٌ وَّمَنَافِعُ وَمِنْهَا تَاْكُلُوْنَ ⑤

၅။ ၎င်းပြင် ထိုအရှင်မြတ်သည် အခြေလေးချောင်း တိရစ္ဆာန်များကိုလည်း ဖန်ဆင်းတော်မူခဲ့လေသည်။ အသင်တို့အဖို့ ထိုခြေလေးချောင်း တိရစ္ဆာန်များ၌ အနွေးထည်သည် လည်းကောင်း၊ အခြားအကျိုး ကျေးဇူးများသည်လည်းကောင်း၊ ရှိပေသည်။ ထိုမှတပါး အသင်တို့သည် ယင်းခြေလေးချောင်း တိရစ္ဆာန်များ အနက်မှပင်(စားဖွယ်ရာများကို)စားသုံးကြကုန်၏။

---

➤➤ ဤအာယတ်တော်တွင် ယင်းသို့သော သူမိုက်တို့အား ဖြေကြားထားတော်မူသည်မှာ အလ္လာဟ်အရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင်၊ အလုံးစုံကိုသိတော်မူသော ဉာဏ်တော်အရှင် ဖြစ်တော်မူ၏။ မည်သူမည်ဝါ အား နဗီအဖြစ် ချီးမြှင့်အပ်တော်မူသည်ကို သိတော်မူ၏။ မိမိအလိုတော်အတိုင်း ရွေးချယ်ချီးမြှင့်တော်မူ၏။ မည်သူနှင့်မျှ တိုင်ပင်ရန် ထိုအရှင်မြတ်၌ တာဝန်အလျှင်းမရှိပေ။ ဤသည့်သဘောကို ကုရ်အာန် (၆း၁၂၅။ ၂၂း၇၅)တွင်လည်း မိန့်ဆိုထားတော်မူသည်။

⑨ ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် ပွင့်လေသမျှသော နဗီတမန်တော်အပေါင်းတို့သည် တောင်ဟီးဒ်တရားကို မူလပထမ အဓိကထား၍ ဟောကြားခဲ့ကြကြောင်း၊ ရှရစ်က်ကို တိုက်ဖျက်ခဲ့ကြကြောင်း၊ တာက္ကဝါတရားဘက်သို့ ဘိမန္တကပြုခဲ့ကြကြောင်း၊ နဗီတမန်တော်အပေါင်းတို့သည် ဤတွင် တညီတညွတ်တည်း၊ တစ်သံတည်း ဖြစ်ခဲ့ကြကုန်ကြောင်း ကောင်းစွာ သိရှိရပေသည်။

① အလ္လာဟ်အရှင်မြတ်သည် မိုး၊ မြေကို မိမိ၏တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တဖြင့် စနစ်တကျ တောင့်တင်း၊ ခိုင်ခံ့၊ တင့်တယ်လျောက်ပတ်စွာ ဖန်ဆင်းတော်မူ၏။ ထိုသည့်အရာများကို ကြည့်ရှုဆင်ခြင်ပါက ဤစကြာဝဠာကြီး၏ ဖန်ဆင်းမှု၊ စီမံကွပ်ကဲအုပ်ချုပ်မှုတို့သည် အနန္တတန်ခိုးတော်ရှင် တစ်ပါး၏ ➤➤

၆။ ၎င်းပြင် အသင်တို့အဖို့ ယင်းခြေလေးချောင်း တိရစ္ဆာန်များတွင် အသင်တို့သည် (၎င်းတို့ကို) ညနေချမ်းတွင် စားကျက်မှ (အိမ်သို့) ပြန်သွင်းလာကြသောအချိန်၌လည်းကောင်း၊ အသင်တို့သည် နံနက်ယံတွင် စားကျက်သို့ လွှတ်ကြသော အချိန်၌လည်းကောင်း၊ နှစ်လိုဖွယ်အကြောင်းလည်း ရှိပေသည်။

وَلَكُمْ فِيهَا جَمَالٌ حِينَ
تُرِيحُونَ وَحِينَ تَسْرَحُونَ ⑥

၇။ ထိုမှတပါး ယင်းခြေလေးချောင်းတိရစ္ဆာန်များသည် အသင်တို့၏ ဝန်စည်စလယ်များကို အသင်တို့ အလွန်အမင်း ခဲယဉ်းစွာသာလျှင် ရောက်ရှိနိုင်ကြသောမြို့ရွာသို့ သယ်ပိုး(၍ ပို့ဆောင်)ခြင်းကိုလည်း ပြုကြကုန်သည်။ ဧကန်စင်စစ် အသင်တို့၏အရှင်မြတ်သည် အလွန်တရာ နူးညံ့သိမ်မွေ့တော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာညှာတာတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

وَتَحْمِلُ أَثْقَالَكُمْ إِلَىٰ بَلَدٍ
لَّمْ تَكُونُوا بَالِغِيهِ إِلَّا بِشِقِّ
الْأَنفُسِ ۚ إِنَّ رَبَّكُمْ لَرَءُوفٌ
رَّحِيمٌ ⑦

၈။ ၎င်းပြင် (ထိုအရှင်မြတ်သည်ပင်လျှင်) မြင်း၊ လားနှင့်မြည်း တိရစ္ဆာန်များကိုလည်း အသင်တို့သည် ၎င်းတို့ကို စီးနင်းကြရန်လည်းကောင်း၊ (အသင်တို့အဖို့) လှပတင့်တယ်မှုရှိစေရန်လည်းကောင်း၊[၁] (ဖန်ဆင်းတော်မူခဲ့ပေသည်)။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည် အသင်တို့မသိကြသော (မြောက်များစွာသော)အရာများကိုလည်း ဖန်ဆင်းတော်မူလေသည်။ [၂]

وَالْخَيْلَ وَالْبِغَالَ وَالْحَمِيرَ
لِتَرْكَبُوهَا وَزِينَةً ۚ وَيَخْلُقُ
مَا لَا تَعْلَمُونَ ⑧

---

➤➤ လက်တွင်း၌သာရှိသည်ကို ကောင်းစွာ သိမြင်နိုင်ပေသည်။ အကယ်၍သာ ဤစကြာဝဠာကြီး၏စီမံကွပ်ကဲအုပ်ချုပ်မှုသည် အရှင်သခင် ၄-၅ပါးတို့၏ လက်တွင်း၌ရှိပါက ဤစကြာဝဠာကြီးသည် ဤမျှပင်တည်ရှိနေမည်မဟုတ်ပေ။ အရှင်သခင် အချင်းချင်း ပြိုင်ဆိုင်ရာမှအစ ဤစကြာဝဠာကြီးသည် ပျက်စီးသွားပြီးပင် ဖြစ်ပေမည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၂၁း၂၂။ ၂၃း၉၁)တွင် မိန့်ဆိုထားတော်မူသည်။

(၁) အတိတ်ခေတ် ကာဖိရ်၊ မုရှ်ရစ်တ်တို့သည် မြင်းများကိုလည်း ကိုးကွယ်ခဲ့ကြ၏။ မြည်းများကိုလည်း ကိုးကွယ်ခဲ့ကြ၏။ Hitti က မိမိစီရင်ရေးသားအပ်သော "အရဗ်သမိုင်း" တွင် နဂ်ျဒ်၏မြင်းများ၊ အလ်ဟစာ၏ မြည်းများနှင့် အွမ္မာန်၏ လားများသည် ကမ္ဘာတွင် ကျော်ကြားကြောင်း ထုတ်ဖော်ရေးသားထားသည်။ ➤➤

وَعَلَى اللّٰهِ قَصْدُ السَّبِيْلِ وَمِنْهَا جَآئِرٌ ۚ وَلَوْ شَآءَ لَهَدٰىكُمْ اَجْمَعِيْنَ ۝٩

၉။ စင်စစ်သော်ကား ဖြောင့်မှန်သော လမ်းကို ပြတော်မူရန်မှာ အလ္လာဟ်အရှင်မြတ်အပေါ်၌သာလျှင် တည်ရှိပေသည်။ စင်စစ် ထိုလမ်းများအနက် ကွေ့ကောက်သောလမ်းများသည်လည်း ရှိပေသည်။ သို့ရာတွင် အကယ်၍သာ ထိုအရှင်မြတ်သည် အလိုရှိတော်မူခဲ့ပါလျှင် အသင်တို့အားလုံးကို တရားလမ်းမှန်ကို ပြတော်မူခဲ့ပြီး ဖြစ်ပေသတည်း။ ၁

➤➤ အမှန်မှာ အလ္လာဟ်အရှင်မြတ်သည် မြင်း၊ လားနှင့်မြည်းများကို လူသားတို့စီးနင်းရန်နှင့် လှပတင့်တယ်မှု အတွက် အသုံးပြုရန်အလို့ငှာ ဖန်ဆင်းထားတော်မူခြင်းသာ ဖြစ်သည်။ ကိုးကွယ်ရာများ မဟုတ်ပေ။

**ဓမ္မသတ်။**

အချို့ဓမ္မသတ်ရှင်များက မြင်း၊ လား၊ မြည်း တိရစ္ဆာန်များ၏ အသားမစားအပ်ဟု ဆိုကြ၏။ သာဓကအဖြစ် ဤအာယတ်တော်ကိုလည်း တင်ပြကြ၏။ ၎င်းတို့၏ တင်ပြချက်မှာ- ကုရ်အာန်ကျမ်းမြတ် (၁၆း၅)တွင် အခြေလေးချောင်း တိရစ္ဆာန်များ အကြောင်း၌ (وَمِنْهَا تَأْكُلُوْنَ) "အသင်တို့သည် ထိုတိရစ္ဆာန်များ အနက်မှ စားသုံးကြသည်"ဟု အတိအလင်း မိန့်ဆိုထားတော်မူ၏။ ကုရ်အာန်ကျမ်းမြတ် (၁၆း၈)တွင် မြင်း၊ လား၊ မြည်းတိရစ္ဆာန်များ အကြောင်း၌မူ ( لِتَرْكَبُوْهَا وَزِيْنَةً ) "အသင်တို့သည် ယင်းတိရစ္ဆာန်များကို စီးနင်းကြရန်လည်းကောင်း၊ (အသင်တို့အဖို့) လှပတင့်တယ်မှု ရှိစေရန်လည်းကောင်း" ဟူ၍သာ မိန့်ဆိုထားတော်မူ၏။ ဤသည်ကိုထောက်ရှုခြင်းအားဖြင့် ဤ(မြင်း၊ လား၊ မြည်းတိရစ္ဆာန်များ)သည် စီးနင်းရန်နှင့် တင့်တယ်မှု ရှိစေရန်အတွက်သာ ဖြစ်ကြောင်း၊ စားသုံးရန်အတွက် မဟုတ်ကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။

ကြည့်- မာဂျိဒီ။ အ- ၃။ စ- ၄၅၉။ အအ-၁၁။

(၂) အလ္လာဟ်အရှင်မြတ်သည် အထက်တွင်ဖော်ပြပါ တိရစ္ဆာန်များအပြင် အခြားမြောက်မြားစွာသော ပစ္စည်းများကို လည်း လူသားတို့ အကျိုးငှာ ဖန်ဆင်းတော်မူလျက်ရှိသည်။ နောင်တွင်လည်း ဖန်ဆင်းတော်မူလျက်ပင် ရှိတော်မူမည်။ သို့ရာတွင် လူသားတို့သည် ထိုသည့်အရာများကို ယခုမသိကြသေးပေ။ ဤအာယတ်တော်တွင် ကမ္ဘာကြီး ပျက်စီးသည် အထိ ဖြစ်ပေါ်လျက် ရှိမည့် အစီးအနင်း အားလုံး တို့သည် အကျုံးဝင်လျက် ရှိပေသည်။

(၁) အထက်တွင်ဖော်ပြပါ အထောက်အထားများနှင့် နောက်တွင်ဖော်ပြပါ အထောက်အထားများကို ထောက်ရှုခြင်း အားဖြင့် သိရှိရသည်မှာ "ဒီန်" သာသနာ၏ ဖြောင့်မတ်မှန်ကန်သော တရားလမ်းသည်သာလျှင် အလ္လာဟ်အရှင်မြတ် ထံတော်သို့ ပို့ဆောင်၏။ အချို့လမ်းများသည် သာသနာတော်နှင့် ဆန့်ကျင်၏။ ကွေ့ကောက်သည်လည်းဖြစ်၏။

ထိုသည့်လမ်းများသည် အလ္လာဟ်အရှင်မြတ်ထံတော်သို့ အလျှင်းမပို့ဆောင်နိုင်ပေ။ အချို့လူသားများ သည် ဖြောင့်မတ်မှန်ကန်သော လမ်းကိုလိုက်ကြ၏။ အချို့မှာမူ ကွေ့ကောက်သော လမ်းများကို လိုက်ကြ၏။ အမှန်မှာ အလ္လာဟ်အရှင်မြတ်အလိုတော်ရှိပါမူ လူခပ်သိမ်းတို့အား ဖြောင့်မတ်မှန်ကန်သောတရားလမ်းကို ပြတော်မူ၍ လိုရာပန်းတိုင်သို့ ပို့ဆောင်တော်မူနိုင်သည်။ သို့ရာတွင် ထိုအရှင်မြတ်သည် ဖြောင့်မတ်မှန်ကန်သော တရားလမ်းကို လိုလားသော သူများအားသာလျှင် လိုရာပန်းတိုင်သို့ ပို့ဆောင်တော်မူသည်။ မလိုလားသောသူတို့အား ပို့တော်မမူချေ။

**(တစ်နည်း)**

ဖြောင့်မှန်သော သာသနာ့တရားလမ်းသည် (သာလျှင်) အလ္လာဟ်အရှင်မြတ်ထံတော်သို့ ရောက်သည်။ ၎င်းအပြင် အချို့လမ်းများသည် ကွေ့ကောက်သည်လည်းရှိသည်။ ထိုအရှင်မြတ်အလိုတော်ရှိတော်မူခဲ့ပါလျှင် အသင်တို့အားလုံးကို လိုရာ(ပန်းတိုင်)သို့ မုချပို့ဆောင်တော်မူခဲ့ပြီဖြစ်အံ့။

ထာနဝီကိုမှီးသည်။အ-၆။စ-၃၇။

هُوَ الَّذِيٓ اَنۡزَلَ مِنَ السَّمَآءِ مَآءً لَّكُمۡ مِّنۡهُ شَرَابٌ وَّمِنۡهُ شَجَرٌ فِيۡهِ تُسِيۡمُوۡنَ ⑩

၁၀။ ထို (အလ္လာဟ်) အရှင်မြတ် သည်ပင်လျှင် (အသင်တို့အဖို့) မိုးကောင်းကင်မှ ရေကိုချပေးတော်မူခဲ့သောအရှင်ဖြစ်တော်မူ၏။ ထိုရေမှပင် အသင်တို့သည် သောက်သုံးကြကုန်၏။ ၎င်းပြင် ထိုရေကြောင့်ပင် (သစ်ပင်၊မြက်ပင်စသည်ဖြင့်၊ အမျိုးမျိုးသော) အပင်(များ)သည် ပေါက်ရောက်လေသည်။ အသင်တို့သည် ထိုအပင်များ၌ပင်(တိရစ္ဆာန်များကို) ထိန်းကျောင်းကြပေသည်။

يُنۡۢبِتُ لَكُمۡ بِهِ الزَّرۡعَ وَ الزَّيۡتُوۡنَ وَالنَّخِيۡلَ وَالۡاَعۡنَابَ وَمِنۡ كُلِّ الثَّمَرٰتِ ؕ اِنَّ فِيۡ ذٰلِكَ لَاٰيَةً لِّقَوۡمٍ يَّتَفَكَّرُوۡنَ ⑪

၁၁။ ထိုအရှင်မြတ်သည်အသင်တို့၏အကျိုးငှာ ထိုရေဖြင့်ကောက်ပဲသီးနှံများကိုလည်းကောင်း၊ သံလွင်ပင်များကိုလည်းကောင်း၊ စွန်ပလွံပင်များကိုလည်းကောင်း၊ စပျစ်(ပင်)များကိုလည်းကောင်း၊ သီးနှံမျိုးစုံတို့ကိုလည်းကောင်း၊ ပေါက်ရောက်စေတော်မူ၏။ ဧကန်မလွဲ ဤသည်၌ စဉ်းစားဆင်ခြင် ချင့်ချိန် သုံးသပ်သူတို့အဖို့ အမှန်ပင်သက်သေလက္ခဏာသည်ရှိချေသတည်း။

وَسَخَّرَ لَكُمُ الَّيۡلَ وَالنَّهَارَ ۙ وَالشَّمۡسَ وَالۡقَمَرَ ؕ

၁၂။ ၎င်းပြင်ထိုအရှင်မြတ်သည်ပင်လျှင် အသင်တို့အကျိုးငှာ ညဉ့်ကိုလည်းကောင်း၊ နေ့ကိုလည်းကောင်း၊ သူရိယနေမင်းကိုလည်းကောင်း၊ လစန္ဒာကိုလည်းကောင်း၊ အမိန့်ကို လိုက်နာစေတော်မူခဲ့၏။

وَالنُّجُومُ مُسَخَّرٰتٌۢ بِاَمۡرِهٖ ؕ اِنَّ فِیۡ ذٰلِكَ لَاٰیٰتٍ لِّقَوۡمٍ یَّعۡقِلُوۡنَ ﴿۱۲﴾

ထိုမှတပါး ကြယ်နက္ခတ်တို့သည်လည်း ထိုအရှင်မြတ်၏ အမိန့်တော်နှင့် လိုက်နာစေခြင်းကို ခံခဲ့ကြရပြီဖြစ်၏။ ဧကန်မလွဲ ဤသည်၌ နားလည်ကြကုန်သောသူတို့အဖို့ သက်သေသာဓကများသည်ရှိကြပေသည်။

وَمَا ذَرَاَ لَكُمۡ فِی الۡاَرۡضِ مُخۡتَلِفًا اَلۡوَانُهٗ ؕ اِنَّ فِیۡ ذٰلِكَ لَاٰیَةً لِّقَوۡمٍ یَّذَّكَّرُوۡنَ ﴿۱۳﴾

၁၃။ ထိုမှတပါး ထိုအရှင်မြတ်သည် အသင်တို့အကျိုးငှာ ပထဝီမြေ၌ ဖန်ဆင်းထားတော်မူသောအရာများကိုလည်း (အမိန့်ကို လိုက်နာစေတော်မူခဲ့လေသည်။) ထိုအရာဝတ္ထုများ၏ အသွေးအရောင် (မျိုး၊မည်၊ ရသာ ရန့်စသည်တို့မှာ တစ်ခုနှင့်တစ်ခုမတူ) ကွဲပြားခြားနားလျက်ပင် ရှိကြပေသည်။ မုချဧကန်ဤသည်၌ တရားကျကြသူတို့အဖို့ အမှန်ပင်သက်သေသာဓကသည် ရှိချေသတည်း။

وَهُوَ الَّذِیۡ سَخَّرَ الۡبَحۡرَ لِتَاۡكُلُوۡا مِنۡهُ لَحۡمًا طَرِیًّا وَّتَسۡتَخۡرِجُوۡا مِنۡهُ حِلۡیَةً تَلۡبَسُوۡنَهَا ۚ وَتَرَی الۡفُلۡكَ مَوَاخِرَ فِیۡهِ وَلِتَبۡتَغُوۡا مِنۡ فَضۡلِهٖ وَلَعَلَّكُمۡ تَشۡكُرُوۡنَ ﴿۱۴﴾

၁၄။ စင်စစ်မှာမူကား ထိုအရှင်မြတ်သည် အကြင်အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် ပင်လယ်သမုဒ္ဒရာကို အသင်တို့သည် ထိုပင်လယ်သမုဒ္ဒရာမှ လတ်ဆတ်သော အသားကိုစားသုံးကြအံ့သောငှာလည်းကောင်း၊ အသင်တို့သည် ထိုပင်လယ်သမုဒ္ဒရာမှ မိမိတို့ဆင်ယင်ကြကုန်သော လက်ဝတ်လက်စားတန်ဆာများကို ထုတ်ယူ(ဆင်ယင် သုံးစွဲ)ကြအံ့သောငှာလည်းကောင်း၊ နိုင်နင်းစေတော်မူခဲ့၏။ ၎င်းအပြင် အသင်သည် သင်္ဘောများကို ထိုပင်လယ်သမုဒ္ဒရာ၌ ရေကိုခွဲ၍ သွားလာလျက်ရှိကြသည်ကို တွေ့မြင်ရလေသည်။ ထိုမှတပါး အသင်တို့သည် (ပင်လယ်ခရီးဖြင့် ကူးလူးဆက်ဆံသွားလာခြင်းအားဖြင့်) ထိုအရှင်မြတ်၏ ကျေးဇူးတော်(တည်းဟူသော စီးပွားဥစ္စာ)ကို ရှာဖွေကြအံ့သောငှာလည်းကောင်း၊ အသင်တို့သည်(အလ္လာဟ်အရှင်မြတ်၏) ကျေးဇူးတော်

များကို သိတတ်ကြအံ့သောငှာလည်းကောင်း၊ (ထို ပင်လယ်သမုဒ္ဒရာကို နိုင်နင်းစေတော်မူခဲ့ပေသည်)။

وَأَلْقَىٰ فِي الْأَرْضِ رَوَاسِيَ أَنْ تَمِيدَ بِكُمْ وَأَنْهَارًا وَسُبُلًا لَعَلَّكُمْ تَهْتَدُونَ ﴿١٥﴾

**၁၅။** ထိုမှတပါး ထိုအရှင်မြတ်သည် ပထဝီမြေ၌၊ ထိုပထဝီမြေသည် အသင်တို့နှင့်တကွ လှုပ်ရှား(ယိမ်းယိုင်)ခြင်း မပြုရန်၊ (ကျောက်ဆူးများကို) တောင်များကို ချထားတော်မူခဲ့လေသည်။ ထို့ပြင် အသင်တို့ လမ်းရှာ၍တွေ့အံ့သောငှာ မြစ်ချောင်းများကိုလည်းကောင်း၊ (ပြုလုပ်တော်မူခဲ့လေသည်)။

وَعَلَامَاتٍ وَبِالنَّجْمِ هُمْ يَهْتَدُونَ ﴿١٦﴾

**၁၆။** ၎င်းပြင် အမှတ်သညာ မှတ်တိုင်များကိုလည်း (ပြုလုပ်တော်မူခဲ့၏)။ ထို့ပြင် ကြယ်နက္ခတ်များဖြင့်လည်း (လူတို့သည်) လမ်းများကို ရှာတွေ့ကြကုန်၏။

أَفَمَنْ يَخْلُقُ كَمَنْ لَا يَخْلُقُ أَفَلَا تَذَكَّرُونَ ﴿١٧﴾

**၁၇။** သို့ပါလျက် ဖန်ဆင်းတော်မူသော အရှင်မြတ်သည် တစ်စုံတစ်ရာကိုမျှ မဖန်ဆင်းနိုင်သော သူကဲ့သို့ ဖြစ်တော်မူပါမည်လော။ သို့ပါလျက် အသင်တို့သည် (ဤမျှပင်)သတိမရကြလေသသလော။(နားမလည်ကြလေသလော)။ [၁]

وَإِنْ تَعُدُّوا نِعْمَةَ اللَّهِ لَا تُحْصُوهَا إِنَّ اللَّهَ لَغَفُورٌ رَحِيمٌ ﴿١٨﴾

**၁၈။** စင်စစ်သော်ကား အကယ်၍ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို ရေတွက်ကြသည်ရှိသော် အသင်တို့သည် ယင်းကျေးဇူးတော်များကို (အလျှင်း)ရေတွက်နိုင်ကြမည်မဟုတ်ပေ။ [၂] ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

---

(၁) အထက်တွင် ပါရှိခဲ့သည့်အတိုင်း အလ္လာဟ်အရှင်မြတ်သည် လူသားတို့ အကျိုးငှာ ကမ္ဘာအဝန်းကို လိုလေသေးမရှိ ပြည့်ဝစုံလင်စွာ ဖန်ဆင်းထားတော်မူ၏။ ထိုအရှင်မြတ်၏ တန်ခိုးတော်၊ ဉာဏ်တော် ➢➢

وَاللّٰهُ يَعْلَمُ مَا تُسِرُّوْنَ وَمَا تُعْلِنُوْنَ ﴿١٩﴾

၁၉။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့ လျှို့ဝှက်ကြသောအကြောင်းကိစ္စများကိုလည်းကောင်း၊ အသင်တို့ ထင်ရှားစေကြကုန်သော အကြောင်းကိစ္စ များကိုလည်းကောင်း၊ (ကောင်းစွာ) သိရှိတော်မူပေ သည်။

وَالَّذِيْنَ يَدْعُوْنَ مِنْ دُوْنِ اللّٰهِ لَا يَخْلُقُوْنَ شَيْـًٔا وَّهُمْ يُخْلَقُوْنَ ﴿٢٠﴾

၂၀။ စင်စစ်မှာမူကား အလ္လာဟ်အရှင်မြတ်၏အပြင် ၎င်းတို့ ဟစ်ခေါ်ကြကုန်သောသူတို့သည် တစ်စုံတစ်ရာ ကိုမျှ ဖန်ဆင်းနိုင်ကြသည်မဟုတ်၊ ၎င်းတို့(ကိုယ်တိုင်) သည်ပင်လျှင်ဖန်ဆင်းခြင်းကိုခံခဲ့ကြရပေသတည်း။[၁]

اَمْوَاتٌ غَيْرُ اَحْيَآءٍ ۚ وَمَا يَشْعُرُوْنَ اَيَّانَ يُبْعَثُوْنَ ﴿٢١﴾

၂၁။ (၎င်းတို့သည်) သူသေများ(သက်မဲ့များပင်) ဖြစ်ကြကုန်၏။ ရှင်သူများမဟုတ်ကြပေ။[၂] ထိုမှတပါး ၎င်းတို့မှာမိမိတို့သည် မည်သည့်အချိန်အခါ၌ ရှင်ပြန် ထစေခြင်း ခံကြရမည်ကိုပင် မသိကြချေ။

---

➤➤ ကရုဏာတော်များကား ကြီးမားလှ၏။ အံ့မဆုံးတည်း။ ယင်ကောင်၏ အတောင်တစ်ဖက်၊ ပရွက်ဆိတ်၏ ခြေတစ်ချောင်း၊ မုန်ညင်းစေ့တစေ့ကိုမျှပင် မပြုလုပ်၊ မဖန်ဆင်းနိုင်သော အရာများသည် အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်နှင့် အသို့လျှင် တန်းတူဖြစ်နိုင်အံ့နည်း။ အလျှင်းမဖြစ်နိုင်ပေ။ သို့ပါလျက် ယင်းသည့်အရာများကို မုရှ်ရစ်က်များက အလ္လာဟ်အရှင်မြတ်နှင့် တန်းတူထားကိုးကွယ်ခြင်းမှာ ကျေးဇူးကန်းခြင်း၊ မိုက်မဲခြင်းသာ ဖြစ်ပေသည်။ မုရှ်ရစ်က်များသည် ဤမျှကိုပင် မစဉ်းစား မဆင်ခြင်ကြလေသလော။

(၂) အထက်တွင်ဖော်ပြပါ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များမှာ နမူနာအဖြစ် အနည်းငယ်မျှ ထုတ်ဖော်မိန့်ဆို ထားတော်မူခြင်းသာဖြစ်သည်။ အမှန်မှာ - ထိုအရှင်မြတ်၏ ကျေးဇူးတော်များကား အသင်္ချေ၊ အသင်္ချာဖြစ်သည်။ ကမ္ဘာအဝှမ်း ဝိုင်းဝန်းရေတွက်သော်လည်း ဘယ်သောအခါ၌မျှ ရေတွက်၍ဆုံးမည် အလျှင်းမဟုတ်ပေ။

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ်၏ ဉာဏ်တော်အနန္တ၊ တန်ခိုးတော်အနန္တ၊ ကရုဏာတော်အနန္တ အကြောင်းများ ပါရှိသည်။ ယခု အာယတ်တော်တွင် မုရှ်ရစ်က်များ၏ မိုက်မဲမှုနှင့် ၎င်းတို့ဆည်းကပ် ကိုးကွယ်နေကြသော ၎င်းတို့ကိုယ်ပိုင် ကိုးကွယ်ရာ ပစ္စည်းများအကြောင်းကို မိန့်ဆိုထားတော်မူသည်။ မုရှ်ရစ်က်တို့၏ ကိုးကွယ်ရာများသည် မြက်တစ်ပင်ကိုမျှပင် မဖန်ဆင်းနိုင်ကြပေ။ ယင်းကိုးကွယ်ရာများသည် တစ်စုံတစ်ရာကို ဖန်ဆင်းနိုင်ရန်ဝေးစွ၊ ၎င်းတို့ကိုယ်တိုင်သည်ပင်လျှင် အလ္လာဟ်အရှင်မြတ်၏ အဖန်ဆင်းခံအရာများသာ ဖြစ်ကြပေသည်။ သို့ပါလျက် မုရှ်ရစ်က်များသည် ယင်းသို့ စွမ်းရည်သတ္တိ တစ်စွေ့သားမျှမရှိသော အချည်းအနှီးသော အရာများကို အလ္လာဟ် အရှင်မြတ်နှင့် ဂုဏ်ရည်တူထား၍ ဆည်းကပ်ကိုးကွယ်ကြသည်မှာ အံ့ဖွယ်ပင်။ ဤသည် ၎င်းတို့၏ မိုက်မဲမှု ဖြစ်သည်မှတပါး အခြားအဘယ်ဖြစ်မည်နည်း။

إِلَٰهُكُمْ إِلَٰهٌ وَاحِدٌ ۚ فَالَّذِينَ لَا يُؤْمِنُونَ بِالْآخِرَةِ قُلُوبُهُم مُّنكِرَةٌ وَهُم مُّسْتَكْبِرُونَ ﴿٢٢﴾

၂၂။ အသင်တို့၏ ခဝပ်ကိုးကွယ်ရာ အရှင်မြတ်သည် တစ်ဆူတည်းသောခဝပ်ကိုးကွယ်ရာ အရှင်မြတ်ပင် ဖြစ်တော်မူ၏။ သို့ရာတွင် တမလွန်ဘဝကိုမယုံကြည်ကြသော သူတို့၏ စိတ်နှလုံးများသည် (ထိုအရှင်မြတ်တစ်ဆူတည်းဖြစ်တော်မူကြောင်းကို) ငြင်းဆိုလျက်ရှိ၍ ၎င်းတို့မှာမူ မာန်မာန ထောင်လွှားလျက်ပင် ရှိကြကုန်၏။

لَا جَرَمَ أَنَّ اللَّهَ يَعْلَمُ مَا يُسِرُّونَ وَمَا يُعْلِنُونَ ۚ إِنَّهُ لَا يُحِبُّ الْمُسْتَكْبِرِينَ ﴿٢٣﴾

၂၃။ မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့လျှို့ဝှက်ကြသောအမှုကိစ္စတို့ကိုလည်းကောင်း၊ ထိုသူတို့ထင်ရှားစေကြကုန်သောအမှုကိစ္စတို့ကိုလည်းကောင်း၊ (အကြွင်းမဲ့) သိတော်မူပေသည်။

ဧကန်အမှန် ထို အရှင်မြတ်သည် မာန်မာန ထောင်လွှား သူတို့အား နှစ်သက်တော် မူသည် မဟုတ်ပေ။

---

(၂) အလ္လာဟ်အရှင်မြတ်မှတပါး မုရှ်ရစ်က်များ ဆည်းကပ် ကိုးကွယ်နေကြသောအရာ အားလုံးတို့သည် အသေများသာ ဖြစ်ကြပေသည်။ ယင်းတို့အနက် အချို့သည် သက်မဲ့များဖြစ်သည်။ ဥပမာ-ရုပ်ထု၊ ဆင်းတုများ။

မုရှ်ရစ်က်များ ဆည်းကပ်ကိုးကွယ်ကြသော အရာများအနက် အချို့သည် တစ်ချိန်က သက်ရှိများဖြစ်ခဲ့ကြသော်လည်း ယခုမူ သေကုန်ကြပြီ။ ဥပမာ-သေဆုံးသွားလေပြီ ဖြစ်သော အချို့သူတော်စင်များ၊ ၎င်းတို့သည် သေဆုံးသွားကြပြီးနောက်တွင်မှ အကိုးကွယ်ခံ၊ အပူဇော်ခံများဖြစ်နေကြသည်။

မုရှ်ရစ်က်တို့ ဆည်းကပ်ကိုးကွယ်နေကြသော အရာများအနက် အချို့သည် ယခုအချိန်တွင် အသက်နှင့်ရှိနေကြသော်လည်း နောင်တစ်ချိန်တွင်မူ မုချသေကြရမည်။ ဥပမာ-တမန်တော် မစီဟ်၊ ရှုဟုလ်ကုဒုစ်၊ ကောင်းကင်တမန်များ၊ ၎င်းတို့အား အချို့တို့သည် ဆည်းကပ်ကိုးကွယ်ကြသည်။

အချို့လူ့သဘာဝ ပျက်စီးနေသော သူများသည် ဂျင်န်နှင့် "ရှိုင်တွာန်" ကိုပင် ဆည်းကပ်ကိုးကွယ်ကြသည်။ ၎င်းတို့အားလုံးသည်လည်း တစ်ချိန်သော် သေကြရမည်သာ ဖြစ်ကြသည်။

အမှန်မှာ ၎င်းတို့ကိုယ်တိုင်သည်ပင်လျှင် အလ္လာဟ်အရှင်မြတ် ဖန်ဆင်းထားတော်မူသော အဖန်ဆင်းခံများသာ ဖြစ်ကြပေသည်။ ထိုအရှင်မြတ်သည် ၎င်းတို့အား အချိန်မရွေး ပြန်လည်သိမ်းပိုက် တော်မူနိုင်သည်။ သို့ဖြစ်ပေရာ - ထိုသို့သောအရာများ၊ ပုဂ္ဂိုလ်များသည် အသို့လျှင် ကိုးကွယ်ရာဖြစ်နိုင်ကြအံ့နည်း။

وَإِذَا قِيلَ لَهُم مَّاذَآ أَنزَلَ رَبُّكُمْ ۙ قَالُوٓا۟ أَسَٰطِيرُ ٱلْأَوَّلِينَ ﴿٢٤﴾

၂၄။ ထို့ပြင် ၎င်းတို့ကို အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်က မည်သည့်အရာကို ချပေးသနားတော်မူပါသနည်း ဟု မေးမြန်းလေသောအခါ၊ ၎င်းတို့က "ရှေးသူဟောင်းတို့နှင့် စပ်လျဉ်း၍ ဖန်တီးထားသော ဒဏ္ဍာရီဝတ္ထုများပင်" ဟု ပြောဆိုဖြေကြားလေသည်။[၁]

لِيَحْمِلُوٓا۟ أَوْزَارَهُمْ كَامِلَةً يَوْمَ ٱلْقِيَٰمَةِ ۙ وَمِنْ أَوْزَارِ ٱلَّذِينَ يُضِلُّونَهُم بِغَيْرِ عِلْمٍ ۗ أَلَا سَآءَ مَا يَزِرُونَ ﴿٢٥﴾

၂၅။ နောက်ဆုံး၌ ၎င်းတို့သည် ကိယာမတ် ရှင်ပြန်ထမည့်နေ့တွင် မိမိတို့၏ဝန်ထုပ်များကိုလည်း အပြည့်အဝထမ်းဆောင်ကြရပေမည်။ ထို့မှတပါး ၎င်းတို့သည် (မိမိတို့)အသိပညာမရှိဘဲ လမ်းလွဲစေခဲ့ကြသော သူတို့၏ ဝန်ထုပ်ဝန်ပိုးများကို ထမ်းဆောင်ကြရပေမည်၊[၂] သတိပြုကြလေကုန်။ ၎င်းတို့သယ်ပိုး ထမ်းရွက်ကြကုန်သောဝန်ထုပ်ဝန်ပိုးသည် အဘယ်မျှ ဆိုးရွားလှပေသနည်း။

---

(၁) မုရှ်ရစ်က်များသည် ပြက်ချော်သည့်သဘောဖြင့် အချင်းချင်းသော်လည်းကောင်း၊ သို့မဟုတ် အကြောင်းမသိသောသူများက စုံစမ်းလိုသည့် သဘောဖြင့်သော်လည်းကောင်း၊ အကြောင်းသိသောသူများက စမ်းသပ်လိုသည့် သဘောဖြင့်သော်လည်းကောင်း၊ ယင်းမုရှ်ရစ်က်များအား "အသင်တို့အရှင်က အသင်တို့အပေါ်၌ မည်သည့်အရာကို ချပေးတော်မူသနည်း"ဟု မေးမြန်းကြသောအခါ (ဝါ) တမန်တော် မုဟမ္မဒ်က–ကုရ်အာန်သည် အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ်ထားတော်မူသော ကျမ်းဂန်ဖြစ်သည်ဟု ဆိုနေသည်။ ဤကိစ္စ တွင် အသင်တို့ အသို့ သဘောထားကြသနည်းဟု မေးမြန်းကြသောအခါ ယင်းမုရှ်ရစ်က်များက "ကုရ်အာန်သည် အတိတ်ခေတ် ကျမ်းဂန်များ၊ ဘာသာများ၏ အခြေအမြစ် မရှိသော (တောင်ဟီးဒ် ။ နုဗူဝါတ် ၊ ရိုနွတ် ၊ ဂျဟန္နမ် စသည့်) ရှေးသူဟောင်းများ၏ စကားများနှင့် အချို့ပုံပြင် ဒဏ္ဍာရီများသာ ဖြစ်သည်ဟု မရှိမသေ မလေးမစား မခန့်မညား ဖြေဆိုကြလေသည်။

(၂) ကုရ်အာန်ကျမ်းမြတ်နှင့်စပ်လျဉ်း၍ ယင်းမုရှ်ရစ်က်များက ထိုသို့မလေးမစား ပြောဆိုခြင်းမှာ ကုရ်အာန်ကျမ်းနှင့်စပ်လျဉ်း၍ လူအများ၏စိတ်တွင် အထင်အမြင်သေးစေပြီးလျှင် မိမိတို့နှင့်တကွ သူတစ်ပါးတို့ကိုပါ လမ်းလွဲမှားစေရန်ပင် ဖြစ်သည်။ ဤသို့အားဖြင့် မုရှ်ရစ်က်များသည် မိမိတို့ကိုယ်တိုင်လည်း လမ်းလွဲမှားခဲ့ကြသည်။ သူတပါးတို့အားလည်း လမ်းလွဲမှားစေခဲ့ကြသည်။ သို့ဖြစ်ပေရာ ယင်းမုရှ်ရစ်က်များသည် ကိယာမတ်နေ့တွင် မိမိတို့၏အပြစ်များကို အတိအကျ အပြည့်အဝ ခံကြရမည်သာမက မိမိတို့ လမ်းလွဲမှားစေခဲ့သော သူများ၏ အပြစ်များကိုပါ ခံကြရပေမည်။ ဤသည့်သဘောကို ကုရ်အာန်(၂၉း၁၃)တွင်လည်း မိန့်ဆိုထားတော်မူသည်။

တမန်တော်မြတ်က မိန့်ကြားတော်မူခဲ့သည်မှာ – ➤➤

قَدْ مَكَرَ الَّذِينَ مِنْ قَبْلِهِمْ فَأَتَى اللَّهُ بُنْيَانَهُمْ مِّنَ الْقَوَاعِدِ فَخَرَّ عَلَيْهِمُ السَّقْفُ مِنْ فَوْقِهِمْ وَأَتَاهُمُ الْعَذَابُ مِنْ حَيْثُ لَا يَشْعُرُونَ ﴿٢٦﴾

၂၆။ ဧကန်အမှန် ၎င်းတို့အလျင်ရှိခဲ့ကြသော သူတို့သည် လျှို့ဝှက် ကြံစည်ခဲ့ကြလေသည်။ သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏အဆောက်အအုံကို အခြေအမြစ်မှ ပြိုပျက်စေတော်မူခဲ့ရာ ၎င်းတို့ထက်မှ အိမ်ခေါင်မိုးသည် ၎င်းတို့အပေါ်သို့ ပြိုကျလာခဲ့လေသည်။ ထိုမှတပါး ၎င်းတို့ထံပြစ်ဒဏ်သည် ၎င်းတို့ မထင်သောနေရာမှ ဆိုက်ရောက်၍ လာခဲ့လေသည်။

ثُمَّ يَوْمَ الْقِيَامَةِ يُخْزِيهِمْ وَيَقُولُ أَيْنَ شُرَكَائِيَ الَّذِينَ كُنتُمْ تُشَاقُّونَ فِيهِمْ ۚ قَالَ الَّذِينَ أُوتُوا الْعِلْمَ إِنَّ الْخِزْيَ الْيَوْمَ وَالسُّوءَ عَلَى الْكَافِرِينَ ﴿٢٧﴾

၂၇။ ထို့နောက်တစ်ဖန် ထိုအရှင်မြတ်သည် ၎င်းတို့အား ကိယာမတ် ရှင်ပြန်ထမည့်နေ့တွင် အရှက်တကွဲဖြစ်စေတော်မူမည်။ ၎င်းပြင် ထိုအရှင်မြတ်သည် (ဤသို့) မိန့်ကြားတော်မူမည်။ ငါအရှင်မြတ်၏ အကြင် တွဲဖက်ယှဉ်ဖက်များသည် အဘယ်မှာနည်း။ အသင်တို့သည် ၎င်းတို့နှင့် ပတ်သက်၍ (အမှန်ကို လက်ခံနာယူသူတို့နှင့်) စိတ်သဘောကွဲလွဲ ပဋိပက္ခဖြစ်လျက် ရှိခဲ့ကြကုန်သည်။ (ထိုအခါ) အသိပညာကို ချီးမြှင့်ပေးသနားတော်မူခြင်းခံခဲ့ကြရသောသူတို့က ယနေ့ အရှက်ကွဲမှုသည်လည်းကောင်း၊ ပြစ်ဒဏ်သည်လည်းကောင်း၊ ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့ အပေါ်၌သာရှိအံ့ဟု ပြောဆိုကြပေမည်။ ၁

➤➤ အကြင်သူသည် တရားလမ်းမှန်သို့ ဘိမန္တကပြုအံ့၊ ထိုသူသည် မိမိ၏ ဖိတ်ခေါ်ချက်ကို လက်ခံနာယူသူများ၏ ကုသိုလ်အကျိုးများနှင့် အညီအမျှ ကုသိုလ်အကျိုးများကို ရရှိမည်ဖြစ်အံ့။ ယင်းကဲ့သို့ ထိုသူ ကုသိုလ်အကျိုးများ ရရှိသည့်အတွက် အခြားသူများ၏ ကုသိုလ်အကျိုးများမှာ လျော့နည်းသွားမည် မဟုတ်ပေ။

အကြင်သူသည် လမ်းမှားသို့ ဘိမန္တကပြုအံ့။ ထိုသူသည် မိမိဖိတ်ကြားချက်ကို လက်ခံနာယူသောသူများ၏ အပြစ်များနှင့် အညီအမျှ အပြစ်များခံရအံ့။ ယင်းကဲ့သို့ ထိုသူအပြစ်များ ခံရသည့်အတွက် အခြားသူများ၏ အပြစ်များလျော့နည်းသွားမည်လည်း မဟုတ်ပေ။ အီဗ်နုကဆီရ်။

(၁) ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်က မုရှ်ရစ်က်တို့အား အထက်၌ပါရှိခဲ့သည့်အတိုင်း မေးမြန်းတော်မူသည့်အခါ၊ မုရှ်ရစ်က်တို့သည် အရှက်တကွဲ အကျိုးနည်းဖြစ်ကြပေမည်။ တစ်ခွန်းတစ်ပါဒမျှ ပြန်လည် လျှောက်ထားနိုင်ကြမည်မဟုတ်ပေ။ ထိုအချိန်တွင် အမှန်တရားရရှိခဲ့ကြသော နဗီတမန်တော်များနှင့် မုအ်မင်န်များက ကျွန်ုပ်တို့ လူ့လောကတွင် ပြောဆိုလေ့ရှိခဲ့ကြသည့်အတိုင်း "ယနေ့သေးသိမ်မှုအပေါင်းနှင့် ပြစ်ဒဏ်အပေါင်းတို့သည် ➤➤

الَّذِينَ تَتَوَفّٰهُمُ الْمَلٰٓئِكَةُ
ظَالِمِيٓ أَنفُسِهِمْ فَأَلْقَوُا السَّلَمَ
مَا كُنَّا نَعْمَلُ مِن سُوٓءٍ بَلٰٓى إِنَّ
اللّٰهَ عَلِيمٌ بِمَا كُنتُمْ تَعْمَلُونَ ﴿٢٨﴾

၂၈။ ယင်းကာဖိရ်များသည် မိမိတို့ကိုယ်ကို နှိပ်စက်လျက်ရှိနေခဲ့ကြစဉ်ကောင်းကင်တမန်များသည် ၎င်းတို့၏ အသက်များကိုနှုတ်ယူခဲ့ကြသည်။ ထိုအခါ ၎င်းတို့သည် ကျွန်တော်မျိုးတို့ မည်သည့် မကောင်းမှုကိုမျှ ပြုလုပ်လျက်ရှိခဲ့ကြသည်မဟုတ်ဟူ၍ (ပြောဆိုကာ) ကျိုးနွံလာကြပေမည်။ ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာကား (၎င်းတို့သည် မကောင်းမှုများကို အမှန်ပင် ပြုလုပ်လျက် ရှိခဲ့ကြကုန်၏) ဧကန်မလွဲ အလ္လာဟ် အရှင်မြတ်သည် အသင်တို့ပြုလုပ်လျက် ရှိခဲ့ကြသည်တို့ကို အကြွင်းမဲ့ သိတော်မူသော အရှင်မြတ်ပင် ဖြစ်ပေတော်မူသတည်း။

فَادْخُلُوٓا أَبْوَابَ جَهَنَّمَ
خٰلِدِينَ فِيهَا فَلَبِئْسَ مَثْوَى
الْمُتَكَبِّرِينَ ﴿٢٩﴾

၂၉။ သို့ဖြစ်ပေရာ(ယခုမူ)အသင်တို့သည် ဂျဟန္နမ်ငရဲဘုံ၏ တံခါးပေါက်များသို့ ထိုဂျဟန္နမ်ငရဲဘုံ၌ အမြဲထာဝစဉ် နေထိုင်သူများအဖြစ် ဝင်ကြလေကုန်။ စစ်စစ်မှာမူကားမောက်မာပလွှားသူတို့၏ ပြန်လည်ရာ ဌာနသည် အဘယ်မျှ ဆိုးရွားလှဘိသနည်း။

وَقِيلَ لِلَّذِينَ اتَّقَوْا مَاذَآ
أَنزَلَ رَبُّكُمْ قَالُوا خَيْرًا
لِّلَّذِينَ أَحْسَنُوا فِي
هٰذِهِ الدُّنْيَا حَسَنَةٌ

၃၀။ သို့ရာတွင်(ရှရစ်ကစသည်တို့မှ) ကြဉ်ရှောင်ကြကုန်သော သူတော်စင်တို့ကို အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အဘယ်အရာကို ချပေးသနားတော်မူပါသနည်းဟု ပြောဆိုမေးမြန်းခဲ့သော်၊ ၎င်းတို့က အလွန်ကောင်းမွန်သော အရာကို (ချပေးသနားတော်မူပါသည်) ဟု ပြောဆို ဖြေကြားကြပေသည်။ [၁]

➤➤ ကာဖိရ်များအဖို့သာဖြစ်သည်” ဟု ပြောဆိုကြပေမည်။ မုရှိရစ်ကတို့သည် နဗီတမန်တော်များ၏ အဆုံးအမ ဩဝါဒများကို နာခံခဲ့ကြပါက ကိယာမတ်နေ့တွင် ယင်းသို့ အရှက်တကွဲ အကျိုးနည်း ဖြစ်ကြရမည် မဟုတ်ပေ။ ဤကား “မည်သူမပြု၊ မိမိမှု” ပေတည်း။

(၁) ကုရ်အာန်ကျမ်းမြတ်နှင့် စပ်လျဉ်း၍ မုရှိရစ်ကများအား မေးမြန်းသောအခါ၊ မုရှိရစ်ကများက အခြေအမြစ်မရှိသော ရှေးသူဟောင်းတို့၏ ဒဏ္ဍာရီစကားများသာ ဖြစ်သည်ဟု မိုက်မဲစွာ ဖြေဆိုခဲ့ကြသည်။ ➤➤

وَلَدَارُ الْاٰخِرَةِ خَيْرٌ ۗ وَلَنِعْمَ دَارُ الْمُتَّقِيْنَ ۝٣٠

ကောင်းမှု ပြုလုပ်သူတို့အဖို့ ဤလောကၰ လည်း ကောင်းကျိုးရှိပေသည်။ ထိုမှတပါး တမလွန် ဘဝ၏ ဗိမာန်သည်ကား အမှန်ပင် အကောင်းဆုံး ဖြစ်၏။ စင်စစ်သော်ကား သူတော်စင်တို့၏နေရာ ဌာနသည် အမှန်ပင် ကောင်းမြတ်လှပေသည်။

جَنّٰتُ عَدْنٍ يَّدْخُلُوْنَهَا تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ لَهُمْ فِيْهَا مَا يَشَآءُوْنَ ۗ كَذٰلِكَ يَجْزِى اللّٰهُ الْمُتَّقِيْنَ ۝٣١

၃၁။ (ထိုနေအိမ်များမှာ) အမြဲထာဝရ နေထိုင်ကြရမည့် ဥယျာဉ်များပင်။ ထိုသူတော်စင်တို့သည် ယင်းဥယျာဉ်များတွင် ဝင်ရောက်ကြပေမည်။ ယင်းဥယျာဉ်များအောက်၌ မြစ်ချောင်းများသည် စီးတွေလျက် ရှိကြပေမည်။ ၎င်းတို့အဖို့ယင်းဥယျာဉ်များတွင် ၎င်းတို့အလိုရှိသမျှတို့သည် ရှိချေမည်။ အလ္လာဟ်အရှင်မြတ်သည် သူတော်စင်တို့အား ဤအတိုင်းပင် အစားပေးတော်မူ၏။

الَّذِيْنَ تَتَوَفّٰهُمُ الْمَلٰٓئِكَةُ طَيِّبِيْنَ ۙ يَقُوْلُوْنَ سَلٰمٌ عَلَيْكُمُ ۙ ادْخُلُوا الْجَنَّةَ بِمَا كُنْتُمْ تَعْمَلُوْنَ ۝٣٢

၃၂။ အကြင်သူ(တော်စင်)တို့အား မလာအိကဟ်ကောင်းကင်တမန်တို့သည် ၎င်းတို့၏အသက်ကို (၎င်းတို့)သန့်ရှင်းစွာ ရှိနေကြစဉ်နှုတ်ယူကြလေသည်။ [၁] (၎င်းပြင်) ထိုမလာအိကဟ် ကောင်းကင်တမန်များက (ထို သူတော်စင်တို့အား အသက် နုတ်ယူစဉ်အခါ၌ (စလာမွန်အလိုက်ကွန်မ်) ငြိမ်းချမ်းမှုသည် အသင်တို့အပေါ်၌ရှိပါစေသား။ အသင်တို့သည် မိမိတို့ကျင့်မူခဲ့ကြသော (ကောင်းမှုသုစရိုက်များ)ကြောင့်ပင် ဂျန္နတ်အမတ သုခဘုံသို့ ဝင်ရောက်ကြလေကုန်ဟု ပြောဆိုကြပေမည်။ [၂]

---

➤➤ ယင်းကုရ်အာန်နှင့် စပ်လျဉ်း၍ မွတ္တကီသူတော်စင်များအား မေးမြန်းသောအခါ ၎င်းတို့ကမူ စိတ်စေတနာသဒ္ဓါတရားထက်သန်စွာဖြင့် အလွန်ကောင်းမွန်မြင့်မြတ်သော၊ စ၊ လယ်၊ အဆုံး အကောင်းချည်းသာ ဖြစ်သောဒေသနာတော်များသာ ဖြစ်ပါသည်ဟု ဖြေဆိုကြလေသည်။

(၁) ဆိုလိုသည်ကား မွတ္တကီများသည် အသက်သေဆုံးသည့် အချိန်အထိ၊ ကုဖ်ရ် ရှရစ်က်စသည့် ပါပညစ်ကျူး မကောင်းမှုများနှင့် လုံးဝ ကင်းစင်လျက်ရှိကြပေမည်။ အလ္လာဟ်အရှင်မြတ်အား မှန်ကန်စွာ ယုံကြည် ➤➤

هَلْ يَنظُرُونَ إِلَّآ أَن تَأْتِيَهُمُ الْمَلَٰٓئِكَةُ أَوْ يَأْتِيَ أَمْرُ رَبِّكَ ۚ كَذَٰلِكَ فَعَلَ الَّذِينَ مِن قَبْلِهِمْ ۚ وَمَا ظَلَمَهُمُ اللَّهُ وَلَٰكِن كَانُوٓا أَنفُسَهُمْ يَظْلِمُونَ ﴿٣٣﴾

၃၃။ ၎င်း(သွေဖည်ငြင်းပယ်သောသူ)တို့သည် မိမိထံ မလာအိကဟ် ကောင်းကင်တမန်များ ရောက်ရှိလာကြခြင်းမှတပါး၊ သို့တည်းမဟုတ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏အမိန့်တော် ရောက်ရှိလာခြင်းမှတစ်ပါး အခြားတစ်စုံတစ်ရာကို စောင့်မျှော်၍ နေကြသည်မဟုတ်ပေ။ ^၁

၎င်းတို့အလျင် ရှိခဲ့ဘူးကြသော(ရှေးလူဟောင်းတို့)ကလည်းဤနည်းအတိုင်းပင် ပြုလုပ်ခဲ့ကြပေသည်။ အမှန်သော်ကားအလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား နှိပ်စက်တော်မူခဲ့သည်မဟုတ်ပေ။ သို့ရာတွင် စင်စစ်မှာမူကား ၎င်းတို့ကိုယ်တိုင် မိမိတို့ ကိုယ်ကို နှိပ်စက်ကြကုန်၏။

---

➤➤ မြတ်နိုးကြသည့်အတွက် ဝမ်းသာအားရ ကြည်ကြည်ဖြူဖြူ မိမိတို့၏ အသက်များကို ကောင်းကင်တမန်တို့အား အပ်နှင်းကြပေမည်။ ကြည့်- မာဂျိဒီ။

(၂) ကောင်းကင်တမန်များက မုအ်မင်န်တို့အား စလာမ်ပို့သကာ အသင်တို့သည် မိမိတို့၏ အကျင့်အမူများကြောင့် ဂျန္နတ်သို့ဝင်ကြပါဟု ပြောဆိုကြမည့်အကြောင်း ဤအာယတ်တော်တွင် လာရှိသည်။ ဤအာယတ်တော်၏ အလိုသဘောမှာ နှစ်မျိုးဖြစ်နိုင်၏။

(က)အသက်နှုတ်ယူပြီးနောက် ဂျန္နတ်ဝင်ခြင်းသည် (ရူဟာနီ) နာမ်အားဖြင့် ဝင်ခြင်းဖြစ်မည်။ (ဂျစ်မာနီ) ရုပ်အားဖြင့် ကိုယ်ခန္ဓာနှင့်အတကွ ဝင်ခြင်းသည် ကိယာမတ်ပြီးသည့်အခါ ဖြစ်မည်။

(ခ)အသင်တို့သည် ကိယာမတ်တွင် ဂျန္နတ်သို့ဝင် စံမြန်းကြရမည်ဖြစ်သည်။ ယခုပြောဆိုခြင်းမှာ ကောင်းချီးသတင်းပေးခြင်းဖြစ်သည်။

ဂျန္နတ်သို့ ဝင်ရခြင်းအကြောင်းမှာ- လူသားတို့၏ အကျင့်အမူများကြောင့်ဟု မိန့်ဆိုထားတော်မူခြင်းမှာ ဖြစ်လေဖြစ်ထရှိသည်ကို အကြောင်းပြု၍ မိန့်ဆိုထားတော်မူခြင်းသာ ဖြစ်သည်။ အမှန်အားဖြင့် ဂျန္နတ်သို့ဝင်ရခြင်း၏ အကြောင်းရင်းမှာ - အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်သာဖြစ်သည်။ တမန်တော်မြတ်၏ ဟဒီးဆ်သြဝါဒတော်များတွင်လည်း ဤအတိုင်းပင် လာရှိသည်။ ဤသို့အားဖြင့် ဟဒီးဆ်နှင့် ကုရ်အာန်သည် မဆန့်ကျင်ပေ။ ထာနဝီ။

(၁) မုရှိရစ်ကန်နှင့် မွတ္တကီများ၏ အကြောင်းအကျိုး မတူသည်များကို မိန့်ကြားတော်မူပြီးနောက် လောကီရေးတွင် နစ်မွန်း၍ နောင်တမလွန်အရေးကို မေ့ကာ မိမိတို့၏ နောင်ရေးကိုပင် ကောင်းမွန်အောင် ပြုလုပ်ရန် သတိမရကြသောသူများအား သတိပေးထားတော်မူသည်မှာ-၎င်းတို့သည် ကောင်းကင်တမန်များ အသက်နှုတ်ရန် လာကြသည်ကိုပင် စောင့်မျှော်နေကြလေသလော၊ သို့တည်းမဟုတ် ချေမှုန်းပစ်မည့် ပြစ်ဒဏ်တော်ကိုပင် ➤➤

فَأَصَابَهُمْ سَيِّئَاتُ مَا عَمِلُوا
وَحَاقَ بِهِم مَّا كَانُوا بِهِ
يَسْتَهْزِءُونَ ۝٣٤

၃၄။ သို့ဖြစ်ပေရာ ၎င်းတို့၌ ၎င်းတို့ ကျင့်မူခဲ့ကြကုန်သော မကောင်းမှု၏ အန္တရာယ်များသည် သက်ရောက်ခဲ့လေသည်။ ထိုမှတပါး ၎င်းတို့ ပြက်ရယ်သမှုပြုခဲ့ကြသည့်အရာ (ဝါ) ပြစ်ဒဏ်သည် ၎င်းတို့အား ဝန်းရံခဲ့လေသတည်း။

وَقَالَ الَّذِينَ أَشْرَكُوا لَوْ
شَاءَ اللَّهُ مَا عَبَدْنَا مِن دُونِهِ
مِن شَيْءٍ نَّحْنُ وَلَا آبَاؤُنَا وَلَا
حَرَّمْنَا مِن دُونِهِ مِن شَيْءٍ
كَذَٰلِكَ فَعَلَ الَّذِينَ مِن

၃၅။ စင်စစ် (အခြားအရာများကို အလ္လာဟ်အရှင်မြတ်နှင့်) တွဲဖက်နိုင်းယှဉ်ကိုးကွယ်သူတို့က အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် အလိုရှိတော်မူခဲ့ပါလျှင် ကျွန်ုပ်တို့သည်လည်းကောင်း၊ ကျွန်ုပ်တို့ အဘ၊ ဘိုး၊ ဘေးတို့သည်လည်းကောင်း၊ ထိုအရှင်မြတ်မှတပါး အခြားတစ်စုံတစ်ရာကိုမျှကိုးကွယ်ခဲ့ကြမည်မဟုတ်ပေ။ ထိုမှတပါး ထိုအရှင်မြတ်၏ အမိန့်မရဘဲ မည်သည့် တစ်စုံတစ်ရာကိုမျှပင် ဟရာမ်ဟူ၍ မြစ်တားခဲ့ကြမည်လည်း မဟုတ်ပေဟု ပြောဆိုကြကုန်၏။

➤➤ စောင့်မျှော်နေကြလေသလော၊ ကိယာမတ်နေ့ကိုပင် စောင့်မျှော်နေကြလေသလော၊ အချိန်လွန်မှ သတိရကြမည်လော၊ ထိုအချိန်တွင် အီမာန် ယုံကြည်ခြင်း၊ ဝန်ချတောင်းပန်ခြင်းတို့ကား အကျိုးဖြစ်ထွန်းစေတော့မည်မဟုတ်ပေ။ အမှန်မှာ "လသာတုန်းဗိုင်းငင်" ဆိုသကဲ့သို့ သေပြီးနောက်အဖို့ မသေမီကပင် ပြင်ဆင်ထားရမည်။ ပြစ်ဒဏ်မကျရောက်မီ လွတ်မြောက်ရန် ကြိုးစားရမည်။ မီးကိုမလောင်မီ တားဆီးရမည်။ မိုးကုန်မှထွန်ချခြင်း၊ မီးလောင်ပြီးမှ မီးသတ်ခြင်းသည်အသိတရားရှိသော သူတို့အလုပ်မဟုတ်ပေ။

အတိတ်ခေတ်များတွင်လည်း ဤသို့အမေ့ကြီး မေ့နေသူများရှိခဲ့ကြပေသည်။ ၎င်းတို့သည် မိစ္ဆာတရားများတွင် နစ်မွန်း၍နေခဲ့ကြသည်။ နောင်တတရား အလျှင်းမရခဲ့ကြပေ။ အသက်သေဆုံးသည်အထိ တမန်တော်များအား သွေးဖည်ငြင်းဆန်ခဲ့ကြသည်သာမက တမန်တော်များ၏ ဩဝါဒများကိုပင် ပြက်ချော်သမှု ပြုခဲ့ကြပေသည်။ နောက်ဆုံးတွင် ပြစ်ဒဏ်တော်သည် ဆိုက်ရောက်လာခဲ့ပေသည်။ မကောင်းသော အပင်စိုက်က မကောင်းသော အသီးကို စားရမည်သာဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် မဟာကရုဏာတော်ရှင် ဖြစ်တော်မူသည်။ ၎င်းတို့အား သွန်သင်ဆုံးမ ဩဝါဒပေးရန် တမန်တော်မြတ်များအားစေလွှတ်တော်မူခဲ့သည်။ ကျမ်းဂန်များကိုချပေးတော်မူခဲ့သည်။ နောင်တတရား ရစေခြင်းငှာ အပြစ်ရှိသူတို့အား ရုတ်တရက်ချက်ခြင်း အရေးယူတော်မမူခဲ့ပေ။ အမှန်မှာ ၎င်းတို့သည် မိမိတို့ကိုယ်ကို မိမိတို့ပင် နှိပ်စက်ခဲ့ခြင်းသာဖြစ်ပေသည်။ ဤကားမည်သူမပြု မိမိမှုပင်တည်း။ ရှေးသူမိုက်တို့၏ ဖြစ်ထွေကို ကြားသိရပြီးနောက်တွင်လည်း ဆက်လက်၍ပင် ဆိုးမိုက်နေကြပါက ခေတ်သစ်လူမိုက်များသည်လည်း ခေတ်ဟောင်းလူမိုက်များကဲ့သို့ အရှုံးကြီး ရှုံးသွားကြရမည်မှာ မလွဲဧကန် အမှန်တည်း။

قَبۡلِهِمۡۚ فَهَلۡ عَلَى ٱلرُّسُلِ إِلَّا ٱلۡبَلَٰغُ ٱلۡمُبِينُ ۝٣٥

(အမှန်သော်ကား) ၎င်းတို့အလျင် ရှိခဲ့ဘူးကြသော (ရှေးသူဟောင်း)တို့သည်လည်း ဤအတိုင်းပင် ပြုခဲ့ကြကုန်၏။ ရစူလ်တမန်တော်များအပေါ်၌ကား (အလ္လာဟ်အရှင်မြတ်၏အမိန့်တော်များကို လူတို့ထံ) ပို့ဆောင်ဟောကြားရန်သာလျှင် တာဝန်ရှိပေသတည်း။

وَلَقَدۡ بَعَثۡنَا فِي كُلِّ أُمَّةٖ رَّسُولًا أَنِ ٱعۡبُدُواْ ٱللَّهَ وَٱجۡتَنِبُواْ ٱلطَّٰغُوتَۖ فَمِنۡهُم مَّنۡ هَدَى ٱللَّهُ وَمِنۡهُم مَّنۡ حَقَّتۡ عَلَيۡهِ ٱلضَّلَٰلَةُۚ فَسِيرُواْ فِي ٱلۡأَرۡضِ فَٱنظُرُواْ كَيۡفَ كَانَ عَٰقِبَةُ ٱلۡمُكَذِّبِينَ ۝٣٦

၃၆။ စင်စစ်သော်ကား ဧကန်မလွဲ ငါအရှင်မြတ်သည် လူမျိုးတိုင်းတွင် ရစူလ်တမန်တော်တစ်ပါးကို စေလွှတ်တော်မူပြီး အသင်တို့သည် အခြားကိုးကွယ်ရာများကို စွန့်လွှတ်ပယ်ရှား၍ (တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ကြလေကုန် ဟု (ဟောကြားစေတော်မူခဲ့လေသည်)။ သို့ရာတွင် ၎င်းတို့တွင် အလ္လာဟ်အရှင်မြတ်က တရားလမ်းမှန်ကို ပြတော်မူသောသူများလည်း ရှိခဲ့ကြ၏။ ထိုနည်းတူစွာ ၎င်းတို့တွင် အကြင်သူများလည်း ရှိခဲ့ကြ၏။ ထိုသူတို့အပေါ်၌ လမ်းမှားခြင်းသည် အတည်ဖြစ်ခဲ့၏။ [၁] သို့ဖြစ်ပေရာ အသင်တို့သည် ကမ္ဘာမြေဝယ်လှည့်လည်၍ မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်သူတို့၏ နောက်ဆုံးအခြေသည် မည်သို့ဖြစ်ခဲ့သည်ကို ကြည့်ရှုလေ့လာကြလေကုန်။

---

(၁) တမန်တော်များ၏ အမိန့်ညွှန်ကြားချက်များကို မနာခံသော အမျိုးသားတို့၌ အဘယ်ကြောင့် ချက်ချင်း ပြစ်ဒဏ် မသက်ရောက်ခဲ့သနည်းဟု မုရှိရစ်က်များက ဆိုကြ၏။ ဤသို့ဆိုခြင်းမှာ အမြော်အမြင် ကင်းမဲ့၍သာ ဆိုခြင်းဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ဤပစ္စက္ခဘဝတွင်ပင် မြောက်မြားစွာသော အမျိုးသားတို့သည် ကြီးကျယ်သော ပြစ်ဒဏ်များသင့်ပြီး မရှုမလှ သေကြေပျက်စီးသွားခဲ့ကြသည်မှာ အထင်အရှားပင်။ ပြစ်မှုကျူးလွန်သူတစ်ဦးအား အနည်းငယ် စိုးစဉ်းမျှ အချိန်မပေးဘဲ ချက်ချင်း ပြစ်ဒဏ်ပေးရကောင်းစေဟူ၍ ဆိုခြင်းမှာ ယုတ္တိဒဋ္ဌီအရလည်းကောင်း၊ အာဂမဒဋ္ဌီအရ လည်းကောင်း၊ မည်သည့်နည်းနှင့်မျှ မလျော်ကန်ပေ။ ပြစ်မှုကျူးလွန်မိသူတစ်ဦးအား မိမိ၏ အမှားကို ပြန်လည်စဉ်းစားစေနိုင်ရန်၊ မိမိ၏ အမှားကို ဝန်ချတောင်းပန်နိုင်ရန်၊ မိမိကိုယ်ကို ပြုပြင်သွားနိုင်ရန် အနည်းငယ်အချိန် ပေးခြင်းသာ လျော်ကန်သင့်မြတ်ပေသည်။

အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား လွတ်လပ်စွာ ရွေးချယ် ပြုလုပ်ပိုင်ခွင့် ပြုထားတော်မူသည်။ ကျောက်ခဲများကဲ့သို့ မလှုပ်မရှားနိုင်သော ပစ္စည်းများ ပြုလုပ်ထားတော်မူသည်လည်း မဟုတ်၊ ➤➤

إِن تَحْرِصْ عَلَىٰ هُدَاهُمْ فَإِنَّ اللَّهَ لَا يَهْدِي مَن يُضِلُّ وَمَا لَهُم مِّن نَّاصِرِينَ ﴿٣٧﴾

၃၇။ (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့ တရားလမ်းမှန် ရရှိရေးအလို့ငှာ မည်မျှပင် အာသာ ရမ္မက် ပြင်းပြသော်လည်း ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် မိမိလမ်းလွဲစေတော်မူသောသူအား လမ်းမှန်ကိုပြတော်မူသည် မဟုတ်ပေ။ ထိုမှတပါး ၎င်းတို့၏ကူညီစောင့်မမည့်သူများဟူ၍လည်း အလျှင်း ရှိကြလိမ့်မည်မဟုတ်ပေ။

وَأَقْسَمُوا بِاللَّهِ جَهْدَ أَيْمَانِهِمْ ۙ لَا يَبْعَثُ اللَّهُ مَن يَمُوتُ ۚ بَلَىٰ وَعْدًا عَلَيْهِ حَقًّا وَلَٰكِنَّ أَكْثَرَ النَّاسِ لَا يَعْلَمُونَ ﴿٣٨﴾

၃၈။ စင်စစ်သော်ကား ၎င်းတို့က အလ္လာဟ်အရှင် မြတ်သည် သေသူအား ရှင်ပြန်ထစေတော်မူမည် မဟုတ်ဟု အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ အစွမ်းကုန် ကျိန်တွယ်ခဲ့ကြလေသည်။ ထိုသို့ အလျှင်း မဟုတ်ပေ။ စင်စစ်မှာကား (မုချ ရှင်ပြန်ထစေတော် မူမည်ဖြစ်၏။) ထိုအရှင်မြတ်သည် ဤသည်ကို ကတိ ပြုတော်မူခြင်းအားဖြင့် မိမိအပေါ်၌ အတည်ပြုတော် မူခဲ့လေသည်။ သို့ရာတွင် များစွာသော သူတို့မှာကား (ဤမျှပင်) မသိနားမလည်ကြချေ။

لِيُبَيِّنَ لَهُمُ الَّذِي يَخْتَلِفُونَ فِيهِ وَلِيَعْلَمَ الَّذِينَ كَفَرُوا أَنَّهُمْ كَانُوا كَاذِبِينَ ﴿٣٩﴾

၃၉။ (သို့ရှင်ပြန်ထစေတော်မူခြင်းမှာ) ထိုသူတို့ ရှေ့ဝယ် ထိုသူတို့ကို ကွဲလွဲခဲ့ကြသောအကြောင်းကို ထင်ရှားစေတော်မူအံ့သောငှာလည်းကောင်း၊ ကာဖိရ် သွေဖည်ငြင်းပယ်သူတို့သည် ဧကန်စင်စစ် မိမိတို့မှာ မုသာဝါဒီများဖြစ်ခဲ့ကြသည်ကို ကောင်းစွာ သိကြအံ့ သောငှာလည်းကောင်း၊ ဖြစ်ပေသတည်း။

➤➤ တိရစ္ဆာန်များကဲ့သို့ ၎င်းတို့၏ စားသောက်သွားလာမှုများ၏ နယ်နိမိတ်ကို ကျဉ်းမြောင်းစွာ သတ်မှတ်ထားတော် မူသည် လည်းမဟုတ်၊ လူသားတို့အား လွတ်လပ်စွာ ရွေးချယ်ပြုလုပ်ပိုင်ခွင့်၊ ကြီးပွားတိုးတက်ပိုင်ခွင့် ပေးထားတော်မူသည်။ အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား စမ်းသပ်တော်မူလိုသည်။ စမ်းသပ်နိုင်ရန်အတွက် လွတ်လပ်ခွင့်ပြုရမည်မှာ အမှန်မုချပင်။ ဃာဇီ။

إِنَّمَا قَوْلُنَا لِشَيْءٍ إِذَا أَرَدْنَاهُ أَن نَّقُولَ لَهُ كُن فَيَكُونُ ﴿٤٠﴾

၄၀။ (စကန်စင်စစ်) ငါ အရှင်မြတ်သည် တစ်စုံတစ်ရာကိုမျှ ရည်စူးတော်မူသောအခါ ထိုအရာကို ငါအရှင်မြတ်က ဖြစ်လေဟု မိန့်ကြားတော်မူရုံဖြင့် ထိုအရာသည် ဖြစ်လာလေသည်။

وَالَّذِينَ هَاجَرُوا فِي اللَّهِ مِن بَعْدِ مَا ظُلِمُوا لَنُبَوِّئَنَّهُمْ فِي الدُّنْيَا حَسَنَةً ۖ وَلَأَجْرُ الْآخِرَةِ أَكْبَرُ ۚ لَوْ كَانُوا يَعْلَمُونَ ﴿٤١﴾

၄၁။ စင်စစ်သော်ကားနှိပ်စက်ညှဉ်းပန်းမှုကို ခံကြရပြီးနောက် အလ္လာဟ်အရှင်မြတ်၏ သာသနာတော်ထွန်းကားမှုကို ရည်စူး၍ ရွှေ့ပြောင်းနေထိုင်သူတို့အား အမှန်ပင် ငါအရှင်မြတ်သည် ကောင်းမွန်သော နေရာတွင် နေရာချပေးတော်မူမည်ဖြစ်၏။ [၁] ထို့မှတပါး တမလွန်ဘဝ၏ အကျိုးဆုလာဘ်ကြီးသည် အကြီးဆုံးပင် ဖြစ်ပေသတည်း။ အကယ်၍ ၎င်းတို့သိကြပါလျှင် ကောင်း၏။

الَّذِينَ صَبَرُوا وَعَلَىٰ رَبِّهِمْ يَتَوَكَّلُونَ ﴿٤٢﴾

၄၂။ (ထိုရွှေ့ပြောင်းနေထိုင်သူတို့ကား) သည်းခံခဲ့ကြသူများပင် ဖြစ်ကြကုန်သည်။ ထို့မှတပါး ၎င်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် အပေါ်၌သာလျှင် ယုံကြည်စိတ်ချ လွှဲအပ်ကြကုန်သတည်း။ [၂]

---

(၁) ကောင်းသူအား ကောင်းကျိုးပေးရန်နှင့် မကောင်းသူအား မကောင်းကျိုးပေးရန်အတွက် သေပြီးနောက် ရှင်ပြန်ထရမည်မှာ အမှန်မုချပင်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်အား သစ္စာရှိ၍ ထိုအရှင်မြတ်၏ လမ်းတော်၌ ဒုက္ခကြီးငယ် အမျိုးမျိုးခံစားကာ အသက်စွန့်သွားခဲ့ကြသည့် မြောက်မြားစွာသော အစ္စလာမ် သားကောင်းတို့၏ သက်စွန့်ကြိုးပမ်းမှုများသည် အချည်းအနှီး ဖြစ်ရမည်လော၊ အချည်းနှီးအလျှင်း ဖြစ်မည်မဟုတ်။ အချို့ပုဂ္ဂိုလ်များသည် အမှန်တရားကို ကာကွယ်ထိန်းသိမ်းခဲ့ကြ၏။ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ကျိုးကျော်စော်ကားသူတို့၏ နှိပ်စက်ညှဉ်းပန်းမှုများကို ခံခဲ့ရကြ၏။ နောက်ဆုံး မိမိတို့၏ အိုးအိမ်တိုက်တာဂေဟာများနှင့် ဆွေမျိုးသားချင်းတို့အား စွန့်လွှတ်၍ တိုင်းတစ်ပါးသို့ပင် ထွက်ခွာသွားခဲ့ကြရ၏။

ထိုသို့သော သာသနာ့ အာဇာနည်များသည် မိမိတို့၏ သစ္စာရှိမှု၊ ဒုက္ခခံမှုတို့၏ ကုသိုလ်အကျိုးကို မုချရရှိကြမည်ဖြစ်သည်။ ထိုသာသနာ့အာဇာနည်များအနက် အချို့ မသေဘဲကျန်ရှိနေခဲ့ကြသော သူများသည် ဤပစ္စက္ခဘဝတွင်လည်း မိမိတို့၏ သက်စွန့်ကြိုးပမ်း ဆောင်ရွက်မှုများ၏ ကုသိုလ်အကျိုးများကို အနည်းငယ် ခံစားကြရမည်ဖြစ်သည်။ ဆိုလိုသည်ကား-မိမိတို့၏ အိုးအိမ်များကို စွန့်လွှတ်သွားသော သူတို့သည် မိမိတို့၏ ယခင်နေရာဌာနများထက် ပိုမိုကောင်းမွန်သော နေရာဌာနများကို ရရှိကြမည်။ ယခင်အိမ်များထက် ➤➤

وَمَآ اَرۡسَلۡنَا مِنۡ قَبۡلِكَ اِلَّا رِجَالًا نُّوۡحِىۡۤ اِلَيۡهِمۡ فَسۡـَٔلُوۡۤا اَهۡلَ الذِّكۡرِ اِنۡ كُنۡتُمۡ لَا تَعۡلَمُوۡنَ ﴿٤٣﴾

၄၃။ အမှန်သော်ကား ငါအရှင်မြတ်သည် အသင့်အလျင်လည်း ယောကျ်ားများကိုသာလျှင် (ရစူလ်တမန်တော်များအဖြစ်) စေလွှတ်တော်မူခဲ့လေသည်။ ငါအရှင်မြတ်သည် ထိုရစူလ်တမန်တော်များထံသို့ "ဝဟ်ယ်" အမိန့်တော်ကို ပို့တော်မူခဲ့လေသည်။ သို့ဖြစ်ပေရာ အကယ်၍ အသင်တို့သည် (မိမိတို့ကိုယ်တိုင်)မသိကြလျှင် (ရှေး)ကျမ်းဂန်ရရှိသူတို့အား မေးမြန်းကြည့်ကြလေကုန်။ ၁

➤➤ ကောင်းသော အိမ်များကို ရရှိကြမည်။

ယခင်တိုင်းရင်းသားများထက် ပိုမိုကြင်နာသနားတတ်သော တိုင်းရင်းသားများ တွေ့ရှိကြမည်။ နေထိုင်စားသောက်မှုတွင်လည်း ယခင်ထက်ပိုမို၍ ချောင်လည်ကြမည်။ ယခင်ကထက်ပိုမို၍ ဂုဏ်သိက္ခာလည်း ရှိကြမည်။ ထို့မှုမက မိမိတို့သည် မိမိတို့အား တိုင်းပြည်မှ နှင်ထုတ်ခဲ့ကြသော သူများအပေါ်တွင် အုပ်ချုပ်ကြရမည်။ တိုင်းပြည်ကိုလည်း အုပ်ချုပ်ကြရမည်။ သူတော်စင်များ၏ အထွတ်အထိပ်များလည်း ဖြစ်ကြရမည်။ ဤကား ဤပစ္စက္ခဘဝတွင် ရရှိကြမည့် အချို့အကျိုးများသာဖြစ်သည်။ ဤကား ရာဇဝင်အထင်အရှားပင်။ နောင်တမလွန်ဘဝတွင် ခံစားကြရမည့် သုခချမ်းသာများကား အသင်္ချေ၊ အသင်္ချာဖြစ်သည်။ အကယ်၍ နောင်တမလွန်ဘဝ၏ သုခချမ်းသာအဖြာဖြာကို ယုံကြည်ပါက ဟစ်ဂျ်ရတ်မပြုမိခဲ့ကြသော သူများသည်လည်း မိမိတို့၏ အိုးအိမ်တိုက်တာများကို စွန့်လွှတ်၍ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ထွက်လာကြမည်သာဖြစ်သည်။

(၂) ဤသည် မုဟာဂျစ်ရ်သာဝကကြီးများ၏ ဂုဏ်ရည်များပင်ဖြစ်သည်။ ယင်းသာဝကကြီးများသည် ကာဖိရ်၊ မုရှ်ရစ်က်တို့၏ နှိပ်စက်ကလူ ပြုမှုများကြောင့် စိတ်ဓာတ်မချောက်ချားခဲ့ပေ။ တိုင်းပြည်နှင့် သားချင်းတို့အား စွန့်လွှတ်ခဲ့ကြရသည်ကိုလည်း မမှုခဲ့ကြပေ။ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်တွင် တွေ့ကြုံရသည့်ဘေး၊ ဒုက္ခအပေါင်းကိုလည်း တည်ကြည်စွာ ရင်ဆိုင်ခဲ့ကြပေသည်။

ထို့ပြင်တဝ ယင်းသာဝကကြီးများသည် အလ္လာဟ်အရှင်မြတ်အားသာလျှင် ယုံပုံခဲ့ကြပေသည်။ ထိုအရှင်မြတ်၏ ကတိတော်များနှင့် ထိုအရှင်မြတ်၏ အကူအညီများကိုသာ မမိုတ်မသုံ ယုံကြည်ကိုးစားခဲ့ကြပေသည်။ ထိုထိုသောဂုဏ်ရည်များနှင့် ပြည့်စုံခဲ့ကြသည့်အတွက်ကြောင့်လည်း ယင်းဆွဟာဗဟ် သာဝကကြီးများသည် နှစ်ဘဝစလုံးတွင် အောင်မြင်ခြင်းကြီးမက အောင်မြင်ခဲ့ကြပေသည်။

**အကြင်သူသည် အလ္လာဟ်အရှင်မြတ်အဖို့ ဖြစ်အံ့။**
**အလ္လာဟ်အရှင်မြတ်လည်း ထိုသူ့အဖို့ ဖြစ်တော်မူအံ့။**

(၁) မက္ကာမြို့သား ကာဖိရ် မုရှ်ရစ်က်များက အလ္လာဟ်အရှင်မြတ်စေလွှတ်တော်မူသော တမန်တော်တစ်ပါးသည် လူသားအလျှင်းမဖြစ်နိုင်၊ ကောင်းကင်တမန်တစ်ပါးသာ ဖြစ်ရပေမည်ဟုဆိုကာ တမန်တော်မြတ်မုဟမ္မဒ်၏ တမန်တော်ဖြစ်မှုကို ငြင်းဆိုခဲ့ကြလေသည်။ ဤအာယတ်တော်၌ ၎င်းတို့အား ဖြေဆိုထားတော်မူသည်။

ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာဦးအစမှပင် လူသားတို့အား တရားဓမ္မ ဟောညွှန်ပြရန်အတွက် လူသားတို့အနက်မှပင် လူသားတမန်တော်များအား ရွေးချယ်စေလွှတ်တော်မူခဲ့သည်။ ထိုအရှင်မြတ် ➤➤

بِالْبَيِّنٰتِ وَالزُّبُرِؕ وَاَنْزَلْنَآ اِلَيْكَ الذِّكْرَ لِتُبَيِّنَ لِلنَّاسِ مَا نُزِّلَ اِلَيْهِمْ وَلَعَلَّهُمْ يَتَفَكَّرُوْنَ ﴿٤٤﴾

၄၄။ (ငါအရှင်မြတ်သည် တမန်တော်များအား) *ထင်ရှားသော သက်သေသာဓကများ၊ ကျမ်းဂန်များနှင့်တကွ* [၁] (စေလွှတ်တော်မူခဲ့သည်။) ထိုမှတပါး ငါအရှင်မြတ်သည် အသင့်ထံသို့လည်း ကျမ်းဂန်ဓမ္မခန်ကို အသင်သည် လူသားတို့အား ထိုသူတို့ထံ ချပေးသနားတော်မူခြင်းခံရသည့် အမိန့်တော်များကို ထင်ရှားပြစေအံ့သောငှာလည်းကောင်း၊ ထိုသူတို့သည် စဉ်းစားဆင်ခြင်ကြအံ့သောငှာလည်းကောင်း၊ ချပေးသနားတော်မူခဲ့ပေသတည်း။ [၂]

---

➤➤ စေလွှတ်တော်မူခဲ့သော တမန်တော်အပေါင်းတို့သည် လူသားမျှသာ ဖြစ်ခဲ့ကြပေသည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ နိယာမ "စွန္နတ်" တော်ပင်ဖြစ်သည်။

① အေ့မာမ်ရာဇီက- "ဗိုင်ယိနာတ်" နှင့် "ဇုဗုရ်" ဟူသော ပုဒ်နှစ်ပုဒ်တွင် "ရိစာလတ်" တမန်တော်ဖြစ်ခြင်း၏ သဘောတရားသည် အကျုံးဝင်လျက်ရှိပေသည်ဟု ဆို၏။ ဤသို့ဆိုခြင်းမှာ မှန်၏။ အဘယ်ကြောင့်ဆိုသော် "ဗိုင်ယိနာတ်" ဟူသောပုဒ်တွင် တမန်တော်တစ်ပါး အမှန်တကယ် ဖြစ်ကြောင်းနှင့် စပ်လျဉ်း၍ မုချရှိအပ်သည့် အထောက်အထားများ၊ တန်ခိုးပြာဋိဟာများအားလုံးသည် အကျုံးဝင်လျက်ရှိပေသည်။ "ဇုဗုရ်" ဟူသောပုဒ်တွင် လူသားတို့အား တမန်တော်တစ်ပါးက ဟောကြားသည့် အမိန့်ပညတ် အရပ်ရပ် အကျုံးဝင်လျက် ရှိပေသည်။

② **ကျမ်းဂန်နှင့်တကွ တမန်တော်စေလွှတ်တော်မူခြင်း၏ သဘော။**

တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံသို့ ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ပို့ချတော်မူခြင်း အကြောင်းမှာ တမန်တော်မြတ်က ယင်းသည့် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ရှင်းလင်းပြတော်မူရန် အတွက်ပင်ဖြစ်သည်။ ရှင်းပြခြင်း၏ တာဝန်မှာ နှုတ်ဖြင့် ရှင်းပြရုံမျှဖြင့် ပြီးဆုံးမသွားပေ။ ကာယကံမြောက်လည်း ရှင်းပြရမည်ဖြစ်သည်။ ထို့ပြင်တဝ စံပြအဖြစ် မိမိကိုယ်တိုင် ဦးဆောင်၍ မွတ်စ်လင်မ် အုပ်စုတစ်စု တည်ထောင်ပြီးလျှင် ကုရ်အာန်ကျမ်းမြတ်(၏လိုလားချက်)နှင့်အညီ လက်တွေ့စီမံအုပ်ချုပ်၍ ပြသသွားရပေမည်။

အလ္လာဟ်အရှင်မြတ်သည် ဤအာယတ်တော်တွင် လူသားတို့ထံသို့ လူသားတမန်တော်များကိုပင် စေလွှတ်တော်မူသည့် သဘောတရားကို ရှင်းပြထားတော်မူသည်။ ကျမ်းဂန်ကိုသာ ပို့ချတော်မူရန်ဖြစ်ပါက ကျမ်းဂန်ကို လူသားတို့ထံသို့ ကောင်းကင်တမန်များဖြင့်လည်း ပို့ပေးတော်မူနိုင်ပေသည်။ လူတိုင်းလူတိုင်းထံသို့ တိုက်ရိုက်လည်း ပို့ပေးတော်မူနိုင်ပေသည်။ သို့ရာတွင် ကျမ်းဂန်ကို ယင်းသို့ ပို့ချရုံမျှဖြင့် ကျမ်းဂန်များကို ထုတ်ပြန် ပို့ချထားတော်မူခြင်းနှင့် စပ်လျဉ်း၍ ထားရှိတော်မူသော အလ္လာဟ်အရှင်မြတ်၏ အလိုတော်သည် ပြည့်ဝသွားသည်မဟုတ်ပေ။ ထိုသည့် အလိုတော် ပြည့်ဝရန်အတွက် အရည်အချင်း အပြည့်ဝဆုံးဖြစ်သော ပုဂ္ဂိုလ်မွန်၊ ပုဂ္ဂိုလ်မြတ်တစ်ဦးသည် ကျမ်းဂန်ကို ယူဆောင်လာရမည်ဖြစ်သည်။

ထိုပုဂ္ဂိုလ်မြတ်သည် ကျမ်းဂန်လာဒေသနာတော်များကို လိုအပ်သမျှ တဖြည်းဖြည်း ➤➤

➤➤ ပိုင်းပိုင်းပြီးလျှင် လူသားတို့အား ဟောကြားရမည်။ သဘောမပေါက်သူများရှိက၊ သဘောပေါက်အောင်၊ နားမရှင်းသူများရှိက နားရှင်းအောင် ရှင်းပြရမည်။ တစ်ဦးတစ်ယောက်၌ ဒွိဟသံသယရှိက ထိုသည့် ဒွိဟသံသယ မှုကို ကင်းဝေးစေရမည်။ တစ်ဦးတစ်ယောက်က စောဒနာတက်က ထိုစောဒနာကို ဖြေပေးရမည်။ ယင်းသို့ အမျိုးမျိုးအဖုံဖုံရှင်းပြပါလျက် အချို့မနာခံလျှင်၊ ဆန့်ကျင်လျှင်၊ အနှောင့်အယှက်ပေးလျှင် ယင်းသို့သောသူများအား ကျမ်းဂန်ကို လက်ခံနာယူကျင့်သုံးသော ပုဂ္ဂိုလ်တို့၌ ရှိအပ်သည့် ဂုဏ်အင်္ဂါနှင့် လျော်ညီစွာ တုံ့ပြန်ဆက်ဆံ သွားရပေမည်။

နာခံသူတို့အား လူ့သက်တမ်းတွင် တွေ့ကြုံရမည့် ပြဿနာအရပ်ရပ်နှင့် စပ်လျဉ်း၍ အဆုံးအမများ ပေးရမည်။ မိမိကိုယ်တိုင် စံပြအဖြစ် ၎င်းတို့ရှေ့မှောက်တွင် ကျင့်သုံးပြရမည်။ ထို့ပြင်တဝ ၎င်းတို့အား တစ်ဦးချင်းလည်းကောင်း၊ စုပေါင်း၍လည်းကောင်း လေ့ကျင့်ပေးပြီး စံပြအုပ်စုတစ်ခုကို ကမ္ဘာ့ လူထုကြီးအား တင်ပြရမည်။ ထိုစံပြအုပ်စု၏ စုပေါင်းနေထိုင်မှုမှာ ကုရ်အာန်ကျမ်းမြတ်၏ လိုလားချက်နှင့် လုံးဝကိုက်ညီရပေမည်။

**<u>ဟဒီးဆ်ကို ငြင်းပယ်သူများ၏ မဟာအမှားတော်။</u>**

ဤအာယတ်တော်သည် လူသားတမန်တော်ကို လက်မခံသော ကာဖိရ်၊ မုရှ်ရစ်က်တို့၏ အယူအဆကို ချေဖျက်သကဲ့သို့ ဟဒီးဆ်တော်ကိုလက်မခံသော(ဝါ)တမန်တော်မြတ်၏ ရှင်းပြချက်ကို လက်မခံဘဲ ကုရ်အာန် ကျမ်းမြတ်ကိုသာ လက်ခံနာယူလိုသောသူများ၏ အယူအဆကိုလည်း ချေဖျက်ပေသည်။

ဟဒီးဆ်တော်ကို လက်မခံသောသူများသည် အောက်ပါစကားရပ် လေးရပ်အနက်၊ စကားတစ်ရပ်ရပ်ကို အဆိုပြုကြရမည်သာ ဖြစ်သည်။

(က) တမန်တော်မြတ်သည် ကုရ်အာန်ကျမ်းမြတ်ကိုသာလျှင် ယူဆောင်၍ လာခဲ့ပေသည်။ တစ်စုံတစ်ရာ ရှင်းပြခဲ့သည် မဟုတ်ပေ။

(ခ) လက်ခံနာယူအပ်သည့်အရာမှာ ကုရ်အာန်ကျမ်းမြတ်သာလျှင် ဖြစ်သည်။ တမန်တော်မြတ်၏ ရှင်းပြချက်မှာ လက်ခံနာယူဖွယ်မဟုတ်။

(ဂ) ယခု ကျွန်ုပ်တို့အဖို့ ကုရ်အာန်ကျမ်းမြတ် တစ်စောင်တည်းသည်ပင် လုံလောက်သည်။ တမန်တော်မြတ်၏ ရှင်းပြချက်မလိုပေ။

(ဃ) ယခု ကုရ်အာန်ကျမ်းမြတ်သာလျှင် အားထားလက်ခံနာယူအပ်သည့်အခြေ၌ ကျန်ရှိပေတော့သည်။ တမန်တော်မြတ်၏ ရှင်းပြချက်မှာမူ လုံးဝ မကျန်ရှိတော့ပေ။ ကျန်ရှိပါသော်လည်း အားထားလက်ခံ ယူအပ်သည့်အခြေ၌ အလျှင်းမရှိတော့ပေ။

အထက်ပါစကားလေးရပ် အနက် မည်သည့်စကားရပ်ကိုပင် အဆိုပြုစေကာမူ ၎င်းတို့၏ လမ်းစဉ်မှာ ကုရ်အာန်ကျမ်းလာ ဤအာယတ်တော်နှင့်ကား ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်လျက် ရှိပေသည်။

အကယ်၍ ၎င်းတို့သည် ပထမစကားရပ်ကို အဆိုပြုကြသည်ရှိသော် ထိုအဆိုပြုချက်အရ ကျမ်းဂန်ကို ကောင်းကင်တမန်များမှတစ်ဆင့် သော်လည်းကောင်း၊ လူသားတို့ထံ တိုက်ရိုက်သော်လည်းကောင်း ပို့ချတော်မမူဘဲ တမန်တော်တစ်ပါးမှ တဆင့် ပို့ချတော်မူသည့် ရည်ရွယ်ချက်ကိုပင် တမန်တော်မြတ်သည် ဖောက်ဖျက်သည်ဟူ၍ (မပြောကောင်း မဆိုကောင်း)ဆိုရာ ရောက်ပေမည်။

အကယ်၍ ၎င်းတို့သည် ဒုတိယစကားရပ် သို့မဟုတ် တတိယစကားရပ်ကို အဆိုပြုကြသည်ရှိသော် ထိုအဆိုပြုချက်အရ အလ္လာဟ်အရှင်မြတ်သည် တမန်တော်တစ်ပါးအား စေလွှတ်တော်မူခြင်းဖြင့် ရရှိနိုင်သည့် အကျိုးကို တမန်တော်တစ်ပါးအား မစေလွှတ်ဘဲ ကျမ်းဂန်ကို ပို့ချတော်မူရုံမျှဖြင့်လည်း ရရှိနိုင်သည် ➤➤

➤➤ ဖြစ်ပါလျက် တမန်တော်တစ်ပါးမှ တစ်ဆင့် ကျမ်းဂန်ကိုပို့ချတော်မူခြင်းမှာ (မပြောကောင်း မဆိုကောင်း) အလ္လာဟ်အရှင်မြတ်သည် အလုပ်ပိုတစ်ခု ပြုလုပ်တော်မူခြင်းသာ ဖြစ်သည်ဟုဆိုရာ ရောက်ပေသည်။

အကယ်၍ ၎င်းတို့သည် စတုတ္ထစကားရပ်ကို အဆိုပြုကြပါမူ ထိုအဆိုပြုချက်အရ ကုရ်အာန်ကျမ်းမြတ်ကိုလည်းကောင်း၊ တမန်တော်မြတ်၏ "နုဗုဝါတ်" တမန်တော်ဖြစ်မှုကိုလည်းကောင်း၊ နှစ်ခုစလုံးကို ရုပ်သိမ်းပလပ်ကြောင်း ကြေညာရာရောက်ပေသည်။ ထို့နောက်တွင် ယုတ္တိယုတ္တာရှိသော လမ်းစဉ်ဟူ၍ မကျန်ရှိနိုင်တော့ပေ။ ရှိသည်ဆိုပါက "နဗီ" အသစ်၊ 'ဝဟီ' အသစ်ကို လက်ခံသော သူ(မိုက်)တို့၏ လမ်းစဉ်သာ ကျန်ရှိပေမည်။ (ဤလမ်းစဉ်သည် အမှားသက်သက်မျှသာ ဖြစ်မည်)။

အဘယ်ကြောင့်ဆိုသော် ဤအာယတ်တော်တွင် ကုရ်အာန်ကျမ်းကို ထုတ်ပြန်ပို့ချတော်မူခြင်း၏ ရည်ရွယ်ချက် ပြည့်ဝစုံလင်စေခြင်းငှာ တမန်တော်၏ ရှင်းလင်းပြသမှု မုချလိုအပ်သည်ဟူ၍ အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင်က အတိအလင်း မိန့်ဆိုထားတော်မူသည်။ သို့ပါလျက် ဟဒီးဆ်ကို လက်မခံသောသူများက "ယခု တမန်တော်၏ ရှင်းလင်းပြချက် မကျန်ရှိတော့ပေ" ဟုဆိုကြလျှင် ယင်းသို့ဆိုခြင်းကြောင့် အကျိုးအားဖြင့် စကားနှစ်ရပ်ပေါ်လာပေမည်။

(၁) ပထမစကားမှာ - စံနမူနာအဖြစ် လိုက်နာကျင့်သုံးရန်အတွက် တမန်တော်မြတ်၏ တမန်တော်ဖြစ်မှုသည် ကုန်ဆုံးသွားပြီ၊ ၎င်းနောက် တမန်တော်နှင့် ကျွန်ုပ်တို့၏ အဆက်အသွယ်မှာ တမန်တော်ဟူဒ်၊ တမန်တော် ဆွာလစ်ဟ်၊ တမန်တော် ရှုအိုက်ဗ်တို့နှင့် ဆက်သွယ်ခြင်းမျိုးသာ ဖြစ်သွားပေမည်။ အလိုသဘောမှာ ကျွန်ုပ်တို့သည် ထိုတမန်တော်ကြီးများအား ထောက်ခံကြသည်။ ယုံကြည်ကြသည်။ သို့ရာတွင် လိုက်နာကျင့်သုံးနိုင်ရန်အတွက် ကျွန်ုပ်တို့ထံတွင် ထိုတမန်တော်ကြီးများ၏ စံနမူနာဟူ၍ကား အလျင်းမရှိပေ။ ဤသည့်အချက်သည်ပင် နဗီသစ်လိုအပ်သည်ကို ထုတ်ဖော်လျက်ရှိပေသည်။ ဤစကားမှန်ကန်ပါက (မမှန်သည်မှာ အမှန်ပင်)(خاتم النبيين) "အနန္တိမ နောက်ဆုံးစွန် တမန်တော်" ဟူသော တမန်တော်မြတ်၏ ဂုဏ်တော်ကို စော်ကားရာရောက်ပေသည်။

(၂) ဒုတိယစကားမှာ - ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ပို့ချတော်မူသော အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်အရ တမန်တော်၏ ရှင်းလင်းပြချက် မပါဘဲလျက်၊ ကုရ်အာန်ကျမ်းမြတ်တစ်စောင်တည်းသည် တရားဓမ္မအတွက် မလုံလောက်ပေ။ ထို့အတွက်ကြောင့် ကုရ်အာန်ကျမ်းမြတ်ကိုသာ နာခံယူသူများက တရားဓမ္မအတွက် ကုရ်အာန်ကျမ်းမြတ် တစ်စောင်တည်းသည်ပင် လုံလောက်ပါသည်ဟူ၍ အဘယ်မျှပင် ကြွေးကြော်ဟစ်အော် နေကြသော်လည်း၊ ၎င်းတို့၏ ကြွေးကြော်ခြင်းမှာ "ခုံကမလှုပ် မြင်းကလှုပ်" ဆိုသကဲ့သို့ အဓိပ္ပါယ် ကင်းမဲ့သော စကားဖြစ်သည်သာမက ကုရ်အာန်ကျမ်းတော်လာအရ အခြားကျမ်းဂန်အသစ် တစ်စောင် လိုလာဒးသည်ဟူ၍လည်း ဆိုရာရောက်ပေမည်။

အထက်တွင် ဖော်ပြပါ အကြောင်းကြောင်းများကြောင့် ဟဒီးဆ်ကို လက်မခံသောသူများသည် ဟဒီးဆ်ကို လက်မခံသည်သာမက အစ္စလာမ်သာသနာကိုပင် အမြစ်မှ ဖြိုလှဲနေကြသူများပင်ဖြစ်ကြပေသတည်း။

(قاتلهم الله) တဖ်လီမုလ် ကုရ်အာန်။ အ-၂။ စ-၅၄၃။ အအ-၄၀။

أَفَأَمِنَ الَّذِينَ مَكَرُوا السَّيِّئَاتِ أَن يَخْسِفَ اللَّهُ بِهِمُ الْأَرْضَ أَوْ يَأْتِيَهُمُ الْعَذَابُ مِنْ حَيْثُ لَا يَشْعُرُونَ ﴿٤٥﴾

၄၅။ အသို့ပါနည်း၊ (အစ္စလာမ်နှင့် ဆန့်ကျင်၍လည်းကောင်း၊ ရစူလ်တမန်တော်မြတ်နှင့်ဆန့်ကျင်၍လည်းကောင်း၊) အန္တရာယ်ပြုကြရန် လျှို့ဝှက်ကြံစည်ခဲ့ကြသောသူတို့သည်ထိုသူတို့အားအလ္လာဟ်အရှင်မြတ်သည် မြေမျိုစေတော်မူမည်ကိုသော်လည်းကောင်း၊ ထိုသူတို့ထံ ထိုသူတို့ မထင်ကြသောနေရာမှ ပြစ်ဒဏ်ရောက်ရှိလာမည်ကိုသော်လည်းကောင်း၊ စိုးရိမ်ခြင်းကင်း၍ နေကြလေသလော။

أَوْ يَأْخُذَهُمْ فِي تَقَلُّبِهِمْ فَمَا هُم بِمُعْجِزِينَ ﴿٤٦﴾

၄၆။ သို့တည်းမဟုတ် ထိုအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့သွားလာနေခိုက် ဖမ်းဆီးကွပ်မျက်တော်မူမည်ကို (စိုးရိမ်ခြင်းမရှိကြသလော)။ သို့ဖမ်းဆီးတော်မူပါလျှင် ၎င်းတို့သည် (ထိုအရှင်မြတ်အား) မစွမ်းဆောင်နိုင်တော်မူအောင် တားဆီးနိုင်ကြသူများမဟုတ်ပေ။

أَوْ يَأْخُذَهُمْ عَلَىٰ تَخَوُّفٍ فَإِنَّ رَبَّكُمْ لَرَءُوفٌ رَّحِيمٌ ﴿٤٧﴾

၄၇။ သို့တည်းမဟုတ် ထိုအရှင်မြတ်သည် ၎င်းတို့အား တဖြည်းဖြည်း ဖမ်းဆီးကွပ်မျက်တော်မူမည်ကို (စိုးရိမ်ခြင်းကင်း၍ နေကြသလော)။ သို့ရာတွင် ဧကန်မလွဲ အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အလွန်နူးညံ့သိမ်မွေ့တော်မူသောအရှင်၊ အလွန်သနား ညှာတာတော်မူသော အရှင်ဖြစ်တော်မူပေသတည်း။ [၁]

---

(၁) မက္ကာမြို့သား ကာဖိရ်များသည် အစ္စလာမ်သာသနာကို တိမ်ကောပပျောက်သွားစေရန် အတွက်လည်းကောင်း၊ တမန်တော်မြတ်အား အနှောင့်အယှက် ပေးရန်အတွက်လည်းကောင်း၊ လျှို့ဝှက်၍ အမျိုးမျိုး ကြံစည်အားထုတ်ခဲ့ကြသည်။ ပရိယာယ်အမျိုးမျိုး သုံးခဲ့ကြသည်။ အစ္စလာမ်နှင့် စပ်လျဉ်း၍ လူအများ၏ စိတ်တွင် ဒွိဟသံသယ ဖြစ်ပေါ်လာစေရန် ကြိုးစားခဲ့ကြသည်။ စောဒနာအမျိုးမျိုး တက်ခဲ့ကြသည်။ ၎င်းတို့သည် မိမိတို့ကိုယ်တိုင်လည်း မိုက်မှားခဲ့ကြသည်။ သူတစ်ပါးတို့အားလည်း မိုက်မှားစေခဲ့ကြသည်။ ဤမျှကြီးမားသော ပြစ်မှုကြီးများကို ကျူးလွန်သော သူမိုက်တို့အား အလ္လာဟ်အရှင်မြတ်သည် "ကာရူန်" ကို မြေမျိုတော်မူစေသကဲ့သို့ မြေမျိုတော်မူစေလိုက မြေမျိုတော်မူစေနိုင်သည်။ ➤➤

၄၈။ အသို့ပါနည်း၊ ၎င်းတို့သည် အလ္လာဟ် အရှင်မြတ် ဖန်ဆင်းတော်မူသော အကြင်အရာများကို မကြည့်ရှုခဲ့ကြလေသလော။ ထိုအရာများ၏ အရိပ်ဆာယာများသည် လက်ယာမှလည်းကောင်း၊ လက်ဝဲဘက်များမှလည်းကောင်း၊ တိမ်းယိမ်းကာ အလ္လာဟ် အရှင်မြတ်၏ ရှေ့တော်မှောက်တွင် ကျိုးနွံစွာ ပျပ်ဝပ် ဦးချလျက် ရှိကြကုန်သတည်း။ ၁

أَوَلَمْ يَرَوْا إِلَىٰ مَا خَلَقَ اللَّهُ مِن شَيْءٍ يَتَفَيَّأُ ظِلَالُهُ عَنِ الْيَمِينِ وَالشَّمَائِلِ سُجَّدًا لِّلَّهِ وَهُمْ دَاخِرُونَ ﴿٤٨﴾

---

➤➤ သို့မဟုတ် ၎င်းတို့ မတွေးထင်သောနေရာမှ ပြစ်ဒဏ်တော်ကိုလည်း သက်ရောက်စေတော်မူနိုင်သည်။ (ဥပမာ- ယင်းကာဖိရ်များသည် ဗဒ်ရ်စစ်ပွဲတွင် အဖက်ဖက်၌ အင်အားကြီးမား များပြားပါလျက် လက်တစ်ဆုပ်စာမျှ ဖြစ်သော မွတ်စ်လင်မ်တို့အား မရှုမလှ စစ်ရေးရှုံးနိမ့်ခဲ့ကြသည်။ ဤသို့ရှုံးနိမ့်ကြရမည်ကို ၎င်းတို့သည် အလျှင်း မတွေးထင်ခဲ့ကြပေ)။

သို့မဟုတ် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား လှုပ်ရှားသွားလာ နေကြခိုက်တွင်လည်း ရုတ်တရက် ပြစ်ဒဏ် ပေးတော်မူလိုက ပေးတော်မူနိုင်သည်။ သို့မဟုတ် ပြစ်ဒဏ်ခတ်တော်မူမည့်အကြောင်း အသိပေးပြီး၊ ကြောက်လန့်နေကြခိုက်တွင်လည်း ပြစ်ဒဏ်ပေးတော်မူလိုက ပေးတော်မူနိုင်သည်။ သို့တည်းမဟုတ် ရုတ်တရက် ဖျက်ဆီးတော်မမူသေးဘဲ တဖြည်းဖြည်း ယုတ်လျော့နိမ့်ကျစေကာ ပြစ်ဒဏ်ပေးတော်မူလိုကလည်း ပေးတော်မူနိုင်သည်။ အသို့ပင် အပြစ်ဒဏ် ပေးတော်မူစေကာမူ ယင်းကာဖိရ်၊ မုရှ်ရစ်က်များသည် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်တော်ကို စိုးစဉ်းမျှပင် ကာကွယ်နိုင်ကြမည် မဟုတ်ပေ။ သို့ပါလျက် ယင်းကာဖိရ် မုရှ်ရစ်ရ်များသည် မစိုးရိမ်ကြလေသလော။

အလ္လာဟ်အရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူသည်။ အလိုတော်ရှိရာကိုပြုတော်မူနိုင်သည်။ ထိုအရှင်မြတ်သည် အပြစ်ရှိသူအား ရုတ်တရက် ချက်ခြင်း ပြစ်ဒဏ်ပေးတော်မူလိုက ပေးတော်မူနိုင်သည်။

သို့ရာတွင် ထိုအရှင်မြတ်သည် အနန္တကရုဏာတော်ရှင်၊ အလွန်နူးညံ့သိမ်မွေ့တော်မူသော အရှင် ဖြစ်တော်မူပေရာ ပြစ်မှုကျူးလွန်သူများအား မိမိတို့၏ အမှားများကို ဝန်ချတောင်းပန်ကာ ရှေ့အဖို့ မိမိတို့၏ အမှားများကို ပြုပြင်သွားနိုင်ကြရန်အတွက် အနည်းငယ် အချိန်ပေးထားတော်မူလေသည်။

သို့ဖြစ်ရာ ကာဖိရ်၊ မုရှ်ရစ်ရ်တို့သည် ဤသည့်အချက်ကို သဘောပေါက်ပြီးလျှင် အချိန်မှီ ဝန်ချတောင်းပန်၍ မိမိတို့၏ အမှားများကို ပြုပြင်သွားသင့်ကြပေသတည်း။

① ဤစကြာဝဠာ ကမ္ဘာအဝှမ်း၌ ရှိရှိသမျှသော အရာအားလုံးတို့သည်သာမက၊ အရိပ်ဆာယာများသည်ပင်လျှင် အလ္လာဟ်အရှင်မြတ်၏ စီရင်ဖန်တီးမှုများကို နာခံလျက်ရှိကြပေသည်။ အမိုက်ခေတ်မှ မုရှ်ရစ်က်များသည် အရိပ်ဆာယာနှင့် စပ်လျဉ်း၍ အမှားမှား အယွင်းယွင်း တွေးထင်ခဲ့ကြပေသေးသည်။ ၎င်းတို့၏ အတွေးအထင်များမှာ အခြေအမြစ်မရှိ၊ အမှားချည်းသာ ဖြစ်ကြောင်း၊ အရာခပ်သိမ်းကုန် တို့နှင့်တကွ အရိပ်ဆာယာများသည် အလ္လာဟ်အရှင်မြတ်၏ စီရင်ဖန်တီးမှုများကို နာခံလျက်ရှိကြောင်း ဤအာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။

ဤအာယတ်တော်တွင်ပါရှိသော (سُجَّدًا) 'စဂျိဒဟ်ပြုသူများ' ဟူသောပုဒ်သည် မူရင်းအနက်ဖြစ်သည့် "အမိန့်နာခံသူများ" ဟူသော အနက်၌ ဖြစ်သည်။

وَلِلّٰهِ يَسْجُدُ مَا فِى السَّمٰوٰتِ وَمَا فِى الْاَرْضِ مِنْ دَآبَّةٍ وَّالْمَلٰٓئِكَةُ وَهُمْ لَا يَسْتَكْبِرُوْنَ ۝٤٩

၄၉။ ထိုနည်းတူစွာ မိုးကောင်းကင်များ၌ လည်းကောင်း၊ ပထဝီမြေ၌ လည်းကောင်း ရှိသမျှသော သွားလာ လှုပ်ရှားသည့် သက်ရှိသတ္တဝါများနှင့် "မလာအိကဟ်"ကောင်းကင်တမန် အပေါင်းတို့သည် လည်းကောင်း အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်ကိုပင် လိုက်နာကြကုန်၏။ စင်စစ်သော်ကား ထိုကောင်းကင် တမန်တို့သည် မာနထောင်လွှားကြသည် မဟုတ်ပေ။

يَخَافُوْنَ رَبَّهُمْ مِّنْ فَوْقِهِمْ وَيَفْعَلُوْنَ مَا يُؤْمَرُوْنَ ۝٥٠ السجدة

၅၀။ ၎င်းတို့သည် မိမိတို့ အထက်၌ လွှမ်းမိုးလျက်ရှိတော်မူသော မိမိတို့၏ အရှင်မြတ်အား ကြောက်ရွံ့ကြလေသည်၊ ထိုမှတပါး ၎င်းတို့သည် မိမိတို့အား ချမှတ်ပေးတော်မူသော အမိန့်တော်များကို လိုက်နာဆောင်ရွက်ကြသည် သာတည်း။

---

ဤစကြဝဠာကမ္ဘာ့အဝှမ်း၌ ရှိရှိသမျှသော အရာအာလုံးတို့သည်သာမက၊ အရိပ်ဆာယာ များသည်ပင်လျှင် အလ္လာဟ်အရှင်မြတ်၏ စီရင်ဖန်တီးမှုများကို နာခံလျက်ရှိကြပေသည်။ အမှိုက်ခေတ်မှ မုရှ်ရစ်က်များသည် အရိပ်ဆာယာနှင့်စပ်လျဉ်း၍ပင် အမှားအမှားအယွင်းယွင်း တွေးထင်ခဲ့ကြပေသည်။ ၎င်းတို့၏ အတွေးအထင်များမှာ အခြေအမြစ်မရှိ၊ အမှားချည်းသာ ဖြစ်ကြောင်း၊ အရာခပ်သိမ်းကုန်တို့နှင့်တကွ အရိပ်ဆာယာများသည် အလ္လာဟ်အရှင်မြတ်၏ စီရင်ဖန်တီးမှုများကို နာခံလျက်ရှိကြောင်း ဤအာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။

ကမ္ဘာအဝှမ်းရှိ သက်ရှိသတ္တဝါအားလုံးတို့သည် အလ္လာဟ်အရှင်မြတ်၏ စီရင်ဖန်တီးမှုကို နာခံလျက်ရှိကြကုန်၏။ ကိုးကွယ်ရာများဟူ၍ မုရှ်ရစ်က်များ ထင်မှတ်ခဲ့ကြသည့် ကောင်းကင်တမာန် များသည်လည်း ထိုအရှင်မြတ်၏ အမိန့်တော်များကို ဦးလည်မသုန်နာခံလျက် ရှိကြကုန်၏။ အနည်းငယ်စိုးစဉ်းမျှပင် မောက်မာ ပလွှား ဝါးကြွားသည် အလျင်းမရှိကြပေ။ ဆိုလိုသည်ကား အဖန်ဆင်းခံသတ္တဝါအားလုံးတို့သည် ကြီးငယ်မခြား အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို နာခံလျက် ရှိကြကုန်သတည်း။

ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် သက်ရှိသတ္တဝါများသည် ပထဝီမြေ၌သာလျှင်မဟုတ်၊ အထက်ဂြိုဟ်များတွင်လည်း ရှိကြောင်း သိရှိရပေသည်။ (သဖ်ဟီမုလ်ကုရ်အာန်)။

**မှတ်ချက်။**

ကောင်းကင်တမာန်များသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို ဦးလည်မသုန် လိုက်နာကြသည်၊ ၎င်းတို့၌ အပြစ်တစုံတရာမျှ မရှိချေ။ သို့ဖြစ်လျှင် ကောင်းကင်တမာန်များသည် အလ္လာဟ်အရှင်မြတ်အား အဘယ်ကြောင့် ကြောင့်ရွံ့ နေကြသနည်း၊ ဟု စောဒကတက်နိုင်သည်။ အမှန်မှာ ကောင်းကင်တမာန်များက အလ္လာဟ်အရှင်မြတ်အား ကြောင့်ရွံ့ ခြင်းမှာ ၎င်းတို့၌ အပြစ်တစုံတရာရှိသည့်အတွက် ကြောက်ရွံ့ ရခြင်းမျိုး မဟုတ်ပေ။ အလ္လာဟ်အရှင်မြတ်၏ အနန္တတန်းခိုးတော်များကို သိကြသည့်အတွက် ကြောက်ရွံ့ ခြင်းမျိုးသာ ဖြစ်သည်။

وَقَالَ اللّٰهُ لَا تَتَّخِذُوْٓا اِلٰهَيْنِ اثْنَيْنِ ۚ اِنَّمَا هُوَ اِلٰهٌ وَّاحِدٌ ۚ فَاِيَّايَ فَارْهَبُوْنِ ﴿٥١﴾

၅၁။ စင်စစ် အလ္လာဟ်အရှင်မြတ်က (ဝေနေယျ သတ္တဝါအပေါင်းတို့အားနဗီတမန်တော်များမှတစ်ဆင့်) အသင်တို့သည် ကိုးကွယ်ရာ အရှင်နှစ်ပါး(ရှိသည်ဟု ယူဆကိုးကွယ်ခြင်း) မပြုကြကုန်လင့်၊ ထိုကိုးကွယ်ရာ အရှင်ကားတစ်ဆူတည်းသာလျှင် ဖြစ်တော်မူပေသည်။ သို့ဖြစ်ပေရာအသင်တို့သည် ငါအရှင်မြတ်အားသာ လျှင် ကြောက်ရွံ့ကြလေကုန်ဟု (အမိန့်တော်ထုတ်ပြန်) မိန့်ကြားတော်မူခဲ့လေသည်။

وَلَهٗ مَا فِى السَّمٰوٰتِ وَالْاَرْضِ وَلَهُ الدِّيْنُ وَاصِبًا ۗ اَفَغَيْرَ اللّٰهِ تَتَّقُوْنَ ﴿٥٢﴾

၅၂။ ထို့ပြင် မိုးကောင်းကင်များ၌ ရှိကုန်သော (သက်ရှိသက်မဲ့) အရာဝတ္ထု အလုံးစုံတို့သည်လည်း ကောင်း၊ ပထဝီမြေ၌ရှိကုန်သော (သက်ရှိသက်မဲ့) အရာဝတ္ထုခပ်သိမ်းတို့သည်လည်းကောင်း၊ ထိုအရှင် မြတ် ပိုင်ဆိုင်တော်မူသော အရာဝတ္ထုချည်းသာ ဖြစ်ကုန်၏။ ထိုမှတပါး ထိုအရှင်မြတ်၏(အမိန့်တော်) ကိုသာ *ထာဝစဉ် လိုက်နာရပေမည်။* [၁] သို့ပါလျက် အသင်တို့သည် အလ္လာဟ်အရှင်မြတ်အပြင် အခြားကို ကြောက်ရွံ့ကြလေသလော။

---

(၁) ဤအာယတ်တော်၏ အနက်ကို မုဖတ်စ်စစ်ရ်များသည် အမျိုးမျိုးဖွင့်ကြသည်။

(က) တာက်ဝီနီ ဖန်ဆင်းတော်မူခြင်း၏ သဘောတရားအရ အရာခပ်သိမ်းတို့သည် မိမိတို့၏ သဘာဝ အလျောက် စေတနာပါသည်ဖြစ်စေ စေတနာ မပါသည်ဖြစ်စေ၊ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို နာခံ၍ နေရသည်သာ ဖြစ်သည်။ ကြည့်- ကုရ်အာန် (၃း ၈၂)။

(ခ) ဤအာယတ်တော်၏ အလိုသဘောမှာ အလ္လာဟ်အရှင်မြတ်အား အမြဲတစေဝတ်ပြုရန်မှာ မုချ တာဝန်တစ်ရပ် ဖြစ်သည်ဟူ၏။ ကြည့်- ကုရ်အာန် (၃၉း ၃)။

(ဂ) အချို့က "ဒီန်" ဟူသော ပုဒ်၏ အနက်ကို အစားပေးခြင်း၊ အကျိုးပေးခြင်း ဖြစ်သည်ဟူ၍ ယူဆကြ၏။ ၎င်းတို့၏ ယူဆချက်အရ ဤအာယတ်တော်၏ အလိုသဘောမှာ ကောင်းမှု၊ မကောင်းမှုတို့၏ ထာဝစဉ် ကောင်းကျိုး ဆိုးကျိုးကို အလ္လာဟ် အရှင်မြတ်သာလျှင် ပေးတော် မူမည်ဟူ၏။

وَمَا بِكُم مِّن نِّعْمَةٍ فَمِنَ اللَّهِ ثُمَّ إِذَا مَسَّكُمُ الضُّرُّ فَإِلَيْهِ تَجْأَرُونَ ﴿٥٣﴾

၅၃။ ထိုမှတပါးမည်သည့်ကျေးဇူးတော်မဆို အသင်တို့၌ရှိခဲ့လျှင် အလ္လာဟ်အရှင်မြတ်အထံတော်မှ (ချီးမြှင့်တော်မူသော) ကျေးဇူးတော်သာ ဖြစ်၏။ ထို့နောက် အသင်တို့၌ ဘေးဒုက္ခ သက်ရောက်ခဲ့သောအခါ အသင်တို့သည် ထိုအရှင်မြတ် အထံတော်သို့သာလျှင် (ကူညီစောင်မတော်မူပါဟု) ဟစ်ကြွေး ပန်ကြားကြကုန်သတည်း။

ثُمَّ إِذَا كَشَفَ الضُّرَّ عَنكُمْ إِذَا فَرِيقٌ مِّنكُم بِرَبِّهِمْ يُشْرِكُونَ ﴿٥٤﴾

၅၄။ ထို့နောက်တစ်ဖန် ထိုအရှင်မြတ်သည် ဘေးဒုက္ခကို အသင်တို့မှဖယ်ရှားတော်မူသောအခါ အသင်တို့အနက်မှ လူတစ်စုသည် ရုတ်တရက်ပင် (အခြားအရာများကို) မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ် (ကိုးကွယ်)ကြကုန်၏။

لِيَكْفُرُوا بِمَا آتَيْنَاهُمْ فَتَمَتَّعُوا فَسَوْفَ تَعْلَمُونَ ﴿٥٥﴾

၅၅။ နောက်ဆုံးတွင်၎င်းတို့သည် အရှင်မြတ် ချီးမြှင့်ပေးသနားတော်မူသောကျေးဇူးတော်များနှင့် စပ်လျဉ်း၍ ကျေးဇူးကန်းသွားကြလေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် ခေတ္တခဏမျှအဖို့ အကျိုးကျေးဇူး ခံစားကြလေကုန်။ ထို့နောက် အသင်တို့သည်မကြာမီ သိရှိကြပေမည်။

وَيَجْعَلُونَ لِمَا لَا يَعْلَمُونَ نَصِيبًا مِّمَّا رَزَقْنَاهُمْ ۗ تَاللَّهِ لَتُسْأَلُنَّ عَمَّا كُنتُمْ تَفْتَرُونَ ﴿٥٦﴾

၅၆။ ထိုမှတပါး၎င်းတို့သည် ငါအရှင်မြတ် ၎င်းတို့အား ချီးမြှင့် ပေးသနားတော်မူသောအရာများအနက်မှ မိမိတို့ မသိနားမလည်သော အရာများအဖို့ ဝေစုဝေပုံ ပြုလုပ်ကြကုန်၏။ အလ္လာဟ်အရှင်မြတ်၏ "ကစမ်" အသင်တို့သည် မိမိတို့ လီဆယ်ဖန်တီးလျက်ရှိသော ကိစ္စများနှင့်စပ်လျဉ်း၍ အမှန်ပင် စစ်ဆေးမေးမြန်းခြင်းကို ခံကြရပေမည်။

وَيَجْعَلُونَ لِلّٰهِ الْبَنٰتِ سُبْحٰنَهٗ ۙ وَلَهُمْ مَّا يَشْتَهُوْنَ ﴿٥٧﴾

၅၇။ ထိုမှတပါးငင်းတို့သည် အလ္လာဟ်အရှင်မြတ်၌ *သမီးများရှိကြသည်ဟု ယိုးစွပ်ကြကုန်၏။* [၁] ထိုအရှင်မြတ်သည် (ငင်းတို့စွပ်စွဲပြောဆိုကြသည်များမှ လုံး၀) သန့်ရှင်းစင်ကြယ်တော်မူ၏။ သို့ရာတွင် ငင်းတို့အဖို့ ငင်းတို့နှစ်သက်ကြသောအရာသည် ရှိပေသည်။

وَاِذَا بُشِّرَ اَحَدُهُمْ بِالْاُنْثٰى ظَلَّ وَجْهُهٗ مُسْوَدًّا وَّهُوَ كَظِيْمٌ ﴿٥٨﴾

၅၈။ စင်စစ်သော်ကား ငင်းတို့အနက် တစ်စုံတစ်ယောက်သည် သမီးမိန်းကလေးနှင့် ပတ်သက်၍ သတင်းကောင်းပေးခြင်းကို ခံရလေသောအခါ ငင်း၏မျက်နှာသည် (ရတ်တရက်ချက်ချင်း) ညိုမည်း၍ သွားလေတော့၏။ ထိုမှတပါး ငင်းသည် ကျိတ်၍ ပူဆွေးလျက်ရှိပေသည်။

يَتَوَارٰى مِنَ الْقَوْمِ مِنْ سُوْٓءِ مَا بُشِّرَ بِهٖ ؕ اَيُمْسِكُهٗ عَلٰى هُوْنٍ اَمْ يَدُسُّهٗ فِى التُّرَابِ ؕ اَلَا سَآءَ مَا يَحْكُمُوْنَ ﴿٥٩﴾

၅၉။ ငင်းသည် မိမိကို မကောင်းသတင်းပေးခြင်းကို ခံရသောကြောင့် လူများထံမှ မမြင်နိုင်ကြလေအောင် ပုန်းကွယ်လေသည်။ (ထို့ပြင်) ယင်းသည် ထိုမိန်းကလေးကို ယုတ်ညံ့သောအခြေအနေနှင့် ထိန်းသိမ်း၍ ထားရပါမည်လော။ သို့တည်းမဟုတ် ငင်းအား မြေကြီးထဲ၌ မြှုပ်ရပါမည်လောဟု (သို့လော၊ သို့လော ဖြစ်၍နေပေသည်)။ သတိပြုကြလေကုန်။ ငင်းတို့၏ ဆုံးဖြတ်ချက်သည် အလွန်ယုတ်ညံ့လှပေသတည်း။

---

(၁) အလ္လာဟ်အရှင်မြတ်သည် တစ်ပါးတည်းဖြစ်တော်မူ၏။ ထိုအရှင်မြတ်၌ သားသမီးသံယောဇဉ် အလျှင်းမရှိ။ အရဗ် မုရှ်ရစ်ကျ်များက အထူးသဖြင့် "ခုဇာအဟ်" နှင့် "ကိနာနဟ်" မျိုးနွယ်များက "ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်၏ သမီးတော်များဖြစ်သည်" ဟု မိုက်မဲစွာဆိုခဲ့ကြ၏။ အမှန်မှာ အရှင်မြတ်၌ သားလည်းမရှိ၊ သမီးလည်းမရှိ၊ ကြင်ရာလည်းမရှိ၊ မည်သည့်သံယောဇဉ်မျှမရှိ။

ယင်းမုရှ်ရစ်ကျ်များက အလ္လာဟ်အရှင်မြတ်၌ သမီးတော်များရှိသည်ဟု ဆိုကြသော်လည်း ငင်းတို့သည် သမီးများကို လွန်စွာ စက်ဆုပ်ရွံရှာ မုန်းတီးခဲ့ကြပေသည်။ ငင်းတို့အနက် တစ်ဦးတစ်ယောက်၌ သမီးမိန်းကလေး ထွန်းကားပါက ထိုသူသည် ရှက်လွန်းလှသည့်အတွက် မိတ်ဆွေများထံမှ ပုန်းကွယ်၍နေ၏။ ရရှိသောသမီးကလေးကို လက်ခံထားရှိပါက အရှက်ထုပ်ကြီးတစ်ခုကို ထမ်းရွက်ထားရသည်ဟူ၍ ယူဆကာ ➢➢

لِلَّذِينَ لَا يُؤْمِنُونَ بِالْآخِرَةِ مَثَلُ السَّوْءِ ۖ وَلِلَّهِ الْمَثَلُ الْأَعْلَىٰ ۚ وَهُوَ الْعَزِيزُ الْحَكِيمُ ﴿٦٠﴾

၆၀။ နောင် တမလွန်ဘဝကို မယုံကြည်ကြသော သူတို့၌ မကောင်းသော အရည်အချင်းရှိ၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်၌မူကား *မြင့်မြတ်လှစွာသော အရည်အချင်းများသည် ရှိကုန်၏။* [၁] ၎င်းပြင် ထိုအရှင်မြတ်သည် တန်ခိုးအာနုဘော်နှင့် လွှမ်းမိုးတော်မူသောအရှင်၊ ကျိုးကြောင်း ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

---

➤➤ ထိုသမီးကလေးအား အလွန် သေးသိမ်ယုတ်ညံ့ သိမ်ဖျင်းသည့် အဖြစ်၌ ထားလေသည်။ သို့မဟုတ်က နောင်တစ်ချိန်သော် သမက်ရမည်ကို တွေး၍ မိမိ၏ သွေးရင်းသားရင်း၊ သမီးရင်းကိုပင် အရှင်လတ်လတ် မြေမြှုပ်သတ်ပစ်၏။

အစ္စလာမ်သာသနာသည် အမျိုးသမီးတို့အား ထိုသည့်အထင်သေးမှု၊ သမီးကလေးများအား ထိုသည့် အရှင်လတ်လတ် သတ်မှုများကို လုံးဝတွန်းလှန် ဖြိုဖျက်ခဲ့လေသည်။ အစ္စလာမ်သာသနာ ထွန်းကားလာပြီးသည့် နောက်ပိုင်းတွင် တိုင်းပြည်တွင် ထိုသည့်အထင်သေးမှု၊ သတ်ဖြတ်မှုသည် လုံးဝ ပျောက်ကွယ်သွားခဲ့လေသည်။ ဤကား အမျိုးသမီးလောကကြီး တစ်ခုလုံးအပေါ်၌ အစ္စလာမ်ကျေးဇူးကြီးတစ်ရပ်ပင်။

(၁) "မုရှ်ရစ်က်များသည် မိမိတို့၏ ကျူးကျော်စော်ကားမှု၊ မလေးမခန့် ပြောဆိုကျင့်မူမှုများကြောင့် နောက်ဆုံးတွင် အလွန်ဆိုးရွားသည့် အဖြစ်ဆိုးနှင့် တွေ့ကြုံကြရမည်ကို မယုံကြည်ကြပေ။ မကောင်းသောဥပမာ၊ မကောင်းသော ဂုဏ်၊ မကောင်းသောအဖြစ်သည် ယင်းသို့သော မုရှ်ရစ်က်များနှင့်သာလျှင် သက်ဆိုင်ပေသည်။ အပ်စပ်ပေသည်။ အဘယ်ကြောင့်ဆိုသော် ၎င်းတို့သည်သာလျှင် သားသမီးများကို တောင့်တကြရသည်။ ၎င်းတို့သည်သာလျှင် ဒုက္ခဖြစ်သည့်အခါ အိုမင်းမစွမ်းသည့်အခါ သားသမီးများကို မှီခိုကြရသည်။ ၎င်းတို့သည် သာလျှင် အရှက်တကွဲဖြစ်ကြရမည်ကို စိုးရိမ်၍ သော်လည်းကောင်း၊ ဆင်းရဲနွမ်းပါးမည်ကို စိုးရိမ်၍သော် လည်းကောင်း၊ သမီးမိန်းကလေးများအား အရှင်လတ်လတ် သတ်ဖြတ်ကြသည်။ ၎င်းတို့သည်သာလျှင် မိမိတို့၏ ကျူးလွန်မှု၊ မိုက်မှားမှု၊ ရှရစ်ကပြုမှုတို့ကြောင့် နောင်တမလွန်ဘဝတွင် ကြီးလေးသော ပြစ်ဒဏ်များကို အမြဲထာဝစဉ် ခံကြရမည်ဖြစ်သည်။

အချုပ်အားဖြင့်ဆိုရသော် ယင်းမုရှ်ရစ်က်များသည် အဖက်ဖက်တွင် ဆုတ်ယုတ်လျက်၊ ချို့တဲ့လျက် ရှိကြပေရာ မကောင်းသောဥပမာ၊ မကောင်းသောဂုဏ်၊ မကောင်းသောအဖြစ်သည် ၎င်းတို့နှင့်သာလျှင် အပ်စပ်ပေသည်။ သက်ဆိုင်ပေသည်။ အလ္လာဟ်အရှင်မြတ်နှင့်ကား လားလားမျှ မအပ်စပ်ပေ။ မသက်ဆိုင်ပေ။

အလ္လာဟ်အရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူလေရာ အမြင့်မြတ်ဆုံး၊ အကြီးကဲဆုံးသော၊ အကောင်းဆုံးသောဥပမာ ဂုဏ်တော်များသည်သာလျှင် ထိုအရှင်မြတ်နှင့် အပ်စပ်ပေသည်။

وَلَوْ يُؤَاخِذُ اللّٰهُ النَّاسَ بِظُلْمِهِمْ مَّا تَرَكَ عَلَيْهَا مِنْ دَآبَّةٍ وَّلٰكِنْ يُّؤَخِّرُهُمْ اِلٰٓى اَجَلٍ مُّسَمًّى ۚ فَاِذَا جَآءَ اَجَلُهُمْ لَا يَسْتَاْخِرُوْنَ سَاعَةً وَّلَا يَسْتَقْدِمُوْنَ ﴿٦١﴾

**၆၁။** စင်စစ်သော်ကား အကယ်၍သာ အလ္လာဟ် အရှင်မြတ်သည် လူတို့အားငင်းတို့၏မတရားမှုကြောင့် (ရုတ်တရက် ချက်ချင်း) ဖမ်းဆီးကွပ်မျက်တော်မူပါလျှင် (ဤပထဝီမြေ)ပေါ်ဝယ် သွားလာလှုပ်ရှားသော သတ္တဝါတစ်စုံတစ်ခုကိုမျှ ချန်ထားတော်မူမည် မဟုတ်ပေ။ သို့ရာတွင် ထိုအရှင်မြတ်သည် ငင်းတို့အား သတ်မှတ်ပြဋ္ဌာန်းပြီးဖြစ်သော အချိန်ကာလတိုင်အောင် ရွှေ့ဆိုင်းတော်မူလေသည်။ တစ်ဖန် ငင်းတို့၏ အချိန်ကာလသည် ဆိုက်ရောက်လာသောအခါ၊ ငင်းတို့သည် တစ်နာရီမျှပင်နောက်သို့ဆုတ်နိုင်ကြမည်လည်း မဟုတ်ပေ။ ရှေ့သို့ တိုးနိုင်ကြမည်လည်း မဟုတ်ပါပေတကား။[၁]

---

(၁) အကယ်၍ အလ္လာဟ်အရှင်မြတ်သည် မတရားသူတို့အား ငင်းတို့၏ မတရားမှုကြောင့် ချက်ချင်း ဖမ်းဆီးကွပ်မျက်တော်မူပါလျှင် ကမ္ဘာမြေပြင်၌ သတ္တဝါတစ်ကောင်မျှ ကျန်ရှိမည်မဟုတ်၊ အားလုံး သေကြပျက်စီးသွားကြပေမည်။

အကြောင်းကား မတရားသောသူများသည် မိမိတို့၏ မတရားမှုကြောင့် ပျက်စီးသွားကြပေမည်။ တရားသောသူများလည်း ရှိရန်မလိုပေ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် (များသောအားဖြင့်) ဤကမ္ဘာတွင်တရားသူနှင့် မတရားသူ၊ အဆိုးနှင့်အကောင်းကို ဒွန်တွဲထားရှိတော်မူလိုသည်။ သို့မဟုတ်ပါမူ၊ ဤကမ္ဘာတွင် မတရားသူများမရှိဘဲ တရားသူများသာ နေထိုင်ခြင်းသည် ကောင်းကင်ဘုံ၌ ကောင်းကင်တမန်များ နေထိုင်သကဲ့သို့ ဖြစ်သွားပေမည်။ သို့ဖြစ်လျှင် ဤကမ္ဘာမြေ၌ သူတော်ကောင်းများအား သီးသန့် နေရာချထားပေးရန်ပင် မလိုတော့ပေ။

အကယ်၍ အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား အပြစ်ရှိသည့်အတွက် ဤပစ္စက္ခဘဝ၌ပင် ရုတ်တရက် ချက်ချင်း ဖမ်းဆီးကွပ်မျက်တော်မူပါလျှင် ဤကမ္ဘာတွင် သတ္တဝါဟူ၍ တစ်ဦးမျှ ကျန်ရှိနိုင်မည် မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် ဤကမ္ဘာသူကမ္ဘာသားတို့အနက် အများစုကြီးမှာ အပြစ်ရှိသူများသာ ဖြစ်ကြပေသည်။ သာမန်အပြစ်ငယ်များနှင့်ကား အသူကင်းနိုင်အံ့နည်း။

( كلكم خطّاؤون ) "အသင်တို့အားလုံးသည်ပင် မေ့မှားသူများ ဖြစ်ကြသည်" ဟူ၍ ဩဝါဒတော် လာရှိပေသည်။

အကယ်၍သာ အပြစ်ရှိသူအား အပြစ်ရှိသည့်အတွက် ဖမ်းဆီးကွပ်မျက်တော်မူသည်ရှိသော် ဤကမ္ဘာသို့ နဗီတမန်တော်များအား စေလွှတ်ရန်ပင် အကြောင်းရှိတော်မူမည် မဟုတ်ပေ။ တမန်တော်များအား ကောင်းကင်တမန်များနှင့်အတူ ထားရန်ပင်သင့်ပေမည်။ ဤသို့အားဖြင့် လူ့လောကတွင် လူကောင်းလည်းမရှိ၊ လူဆိုးလည်းမရှိတော့ပေရာ လူသားတို့အကျိုးငှါ ဖန်ဆင်းထားတော်မူသော တိရစ္ဆာန်များလည်း ရှိရန် မလိုတော့ပေ။ ➤➤

وَيَجْعَلُونَ لِلّٰهِ مَا يَكْرَهُونَ وَتَصِفُ أَلْسِنَتُهُمُ الْكَذِبَ أَنَّ لَهُمُ الْحُسْنٰى ۖ لَا جَرَمَ أَنَّ لَهُمُ النَّارَ وَأَنَّهُمْ مُّفْرَطُونَ ﴿٦٢﴾

၆၂။ ထိုမှတပါး ၎င်းတို့သည် မိမိတို့ စက်ဆုပ်ကြကုန်သောအရာများကို *အလ္လာဟ်အရှင်မြတ်၌ ရှိသည်ဟု ယိုးစွပ်ကြပေသည်။* ① သို့ပါလျက် ၎င်းတို့၏ နှုတ်(လျှာ)များသည် ဧကန်စင်စစ် ၎င်းတို့အဖို့ ကောင်းကျိုးချမ်းသာရှိသည်ဟူ၍ပင် မုသားပြောဆိုကြသေးသည်။ မချွတ်မလွဲ ၎င်းတို့အဖို့ ငရဲမီးသည် (အဆင်သင့်) ရှိပေသည်။ ထိုမှတပါး ဧကန်စင်စစ် ၎င်းတို့သည် (ယင်းငရဲမီးထဲသို့) ရှေးဦးစွာပို့ဆောင်ခြင်း ခံကြရမည့်သူများပင် ဖြစ်ကုန်သတည်း။

---

➤➤ ထိုမှတပါး အလ္လာဟ်အရှင်မြတ်သည် လူသားတို့၏ ပြစ်မှုများကြောင့် ဥပမာ- မိုးရွာသွန်းခြင်းကို ပိတ်ပင်ရပ်စဲထားတော်မူလိုက်သော် လူသားတို့နှင့်တကွ အခြားသက်ရှိသတ္တဝါအားလုံးတို့ပါ သေကြေပျက်စီးသွားကြမည်မှာအမှန်ပင်။

အချုပ်အားဖြင့် အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် အပြစ်ရှိတိုင်းသာ ရုတ်တရက် ချက်ချင်း အရေးယူတော်မူပါလျှင် ဤကမ္ဘာကြီးသည် မိနစ်ပိုင်းအတွင်း ပျက်ပြုန်းသွားပေမည်။ သို့တစေလည်း ထိုအရှင်မြတ်သည် အလွန်နူးညံ့သိမ်မွေ့တော်မူသောအရှင်၊ မဟာကရုဏာတော်ရှင်၊ ကျိုးကြောင်းဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေရာ အပြစ်ရှိသူတို့အား ရုတ်တရက်ချက်ချင်း အရေးယူတော်မမူပေ။ အပြစ်ရှိသူတို့အား မိမိတို့၏ အမှားများကို မြင်ရန်၊ ပြင်ရန်နှင့်ဝန်ချတောင်းပန်နိုင်ရန်အတွက် အချိန်ပေးတော်မူသည်။ သတ်မှတ်ထားတော်မူသည့် အချိန်အထိ ခွင့်ပြုထားတော်မူသည်။ သို့ရာတွင် ထို သတ်မှတ်ထားတော် မူသောအချိန် ကျရောက်လာသည့် အခါတွင်မူ တစ်စက္ကန့်မျှပင် ရှေ့သို့လည်း တိုးနိုင်မည်မဟုတ်၊ နောက်သို့လည်း ဆုတ်နိုင်ကြမည်မဟုတ်။

① အရဗ် မုရှ်ရစ်က်များသည် မိမိတို့ကိုယ်တိုင် မနှစ်ခြိုက်သောအရာများကို (ဥပမာ-သမီးများ၊ မိမိတို့၏ ဥစ္စာပစ္စည်းများတွင် သူတစ်ပါးပါဝင်ပိုင်ဆိုင်မှု၊ သူတစ်ပါးက မိမိတို့အား မလေးမခန့်ပြုမှု၊ ပြက်ချော် ပြောင်လှောင်မှုများကို) အလ္လာဟ်အရှင်မြတ်အဖို့ နှစ်ခြိုက်ကြပေသည်။ ယင်းသို့ကြီးမားလှသည့် ပြစ်မှုကိုကျူးလွန်ပြီး နောက်တွင် ၎င်းတို့က ဤပစ္စက္ခဘဝတွင်လည်း ကောင်းသောအရာများသည် ငါတို့နှင့်သာလျှင် ထိုက်တန်သည်။ အကယ်တန္တု နောင်တမလွန်ဘဝရှိပါက ယင်းဘဝ၏ သုခချမ်းသာများသည်လည်း ငါတို့နှင့်သာလျှင် ထိုက်တန်သည်ဟု မိုက်မဲစွာ ပြောဆို ကြသေးသည်။ ဤအကြောင်းကို ကုရ်အာန်ကျမ်းမြတ် ( ၄၁ : ၅၀ )တွင်လည်း မိန့်ဆိုထားတော်မူသည်။

မုရှ်ရစ်က်များ၏ မျှော်မှန်းချက်မှာ မိမိတို့၏အပြုအမူ အကျင့်အကြံနှင့် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်သော အရာကို မျှော်မှန်းခြင်းသာဖြစ်သည်။ အမှန်မှာ၎င်းတို့အဖို့ ဂျဟန္နမ်ငရဲသည်သာ အသင့်ရှိ ပေသည်။ ၎င်းတို့သည်လည်း ယင်းငရဲဘက်သို့ နေ့စဉ်နှင့်အမျှ ဦးတည်သွားလျက်ရှိပေသည်။

تَاللَّهِ لَقَدْ أَرْسَلْنَآ إِلَىٰٓ أُمَمٍ مِّن قَبْلِكَ فَزَيَّنَ لَهُمُ ٱلشَّيْطَٰنُ أَعْمَٰلَهُمْ فَهُوَ وَلِيُّهُمُ ٱلْيَوْمَ وَلَهُمْ عَذَابٌ أَلِيمٌ ﴿٦٣﴾

၆၃။ အလ္လာဟ်အရှင်မြတ်၏ ကစမ်၊ ဧကန်မလွဲ ငါအရှင်မြတ်သည် အသင်၏အလျင် အုပ်စုအသီးသီး ထံသို့ (ရစူလ်တမန်တော်များကို) စေလွှတ်တော်မူခဲ့လေသည်။ သို့ရာတွင် ရှိုင်တွာန်မိစ္ဆာကောင်သည် ၎င်းတို့၏ပြုကျင့်မှုများကို ၎င်းတို့၏အမြင်တွင်လည်း လှပတင့်တယ်အောင် ပြုလုပ်ခဲ့လေသည်။ သို့ဖြစ်ပေရာ ယင်းရှိုင်တွာန်မိစ္ဆာကောင်သည် ယနေ့လည်း ၎င်းတို့၏ အဆွေခင်ပွန်းပင် ဖြစ်ပေသည်။ ထိုမှတပါး ၎င်းတို့၌ ပြင်းပြနာကျင်ဖွယ်ပြစ်ဒဏ်ရှိချေသည်။ [၁]

وَمَآ أَنزَلْنَا عَلَيْكَ ٱلْكِتَٰبَ إِلَّا لِتُبَيِّنَ لَهُمُ ٱلَّذِى ٱخْتَلَفُوا۟ فِيهِ ۙ وَهُدًى وَرَحْمَةً لِّقَوْمٍ يُؤْمِنُونَ ﴿٦٤﴾

၆၄။ စင်စစ်သော်ကား ငါအရှင်မြတ်သည်အသင်၏ အပေါ်၌ ကျမ်းတော်မြတ်ကို ချပေးသနားတော်မူခဲ့သည်မှာ အသင်သည် ၎င်းတို့အား ၎င်းတို့ ကွဲလွဲချက်ရှိခဲ့ကြသောအကြောင်းကို ရှင်းလင်းအံ့သောငှာသာလည်းကောင်း၊ မှအ်မင်န်သက်ဝင်ယုံကြည်သူတို့အဖို့ တရားလမ်းညွှန်အဖြစ်လည်းကောင်း၊ ကရုဏာတော်အဖြစ်လည်းကောင်း ချပေးတော်မူခဲ့ခြင်းသာ ဖြစ်ပေသတည်း။ [၂]

---

(၁) မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်များ၏ မလေးမခန့်ပြုမှု၊ ဆိုးမိုက်မှု၊ သွေဖည်မှုများကြောင့် တမန်တော်မြတ်သည် လူ့သဘာဝအလျောက် စိတ်ဆင်းရဲခြင်း ဖြစ်ရာတော်မူခဲ့လေသည်။

ယင်းသို့ စိတ်ဆင်းရဲခြင်း ဖြစ်တော်မမူရန်အလို့ငှာ အလ္လာဟ်အရှင်မြတ်သည် ဤအာယတ်တော်တွင် တမန်တော်မြတ်အလျင် အတိတ်ခေတ်များ၌ အုပ်စုအသီးသီးထံသို့ တမန်တော်များအား စေလွှတ်တော်မူခဲ့သည့်အကြောင်း၊ သို့စေလွှတ်တော်မူသည့်အခါ ရှိုင်တွာန်သည် ကာဖိရ်၊ မုရှ်ရစ်က်တို့အား အမြဲတစေ ဖြားယောင်းခဲ့သည့်အကြောင်း၊ ၎င်းတို့၏ အပြုအမူများကို ၎င်းတို့၏အမြင်၌ အကောင်းထင်စေခဲ့ကြောင်း။ သို့အတွက် ယင်းကာဖိရ်၊ မုရှ်ရစ်က်များသည် ဆိုးသွမ်းမိုက်မဲမှုများတွင် အမြဲတစေ နစ်မွန်းလျက် နေခဲ့ကြသည့်အကြောင်း၊ နောက်ဆုံးတွင် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ် ပြစ်ဒဏ်ခတ်တော်မူခြင်းကို ခံခဲ့ကြရကြောင်း။

ယင်းသို့ ပြစ်ဒဏ်ခတ်တော်မူခြင်း ခံရသည့်အခါ ၎င်းတို့၏မိတ်ဆွေကြီး ရှိုင်တွာန်သည် ၎င်းတို့အား အနည်းငယ် စိုးစဉ်းမျှမကာကွယ်နိုင်ခဲ့ကြောင်း၊ ထို့အတူ တမန်တော်မြတ် လက်ထက်ရှိ ကာဖိရ်၊ မုရှ်ရစ်က်များသည်လည်း အတိတ်ခေတ်ကာဖိရ်၊ မုရှ်ရစ်က်များကဲ့သို့ပင် နောက်ဆုံးတွင် ပြစ်ဒဏ်တော်သင့်၍ ပျက်စီးကြမည်သာ ဖြစ်ကြောင်း၊ ထို့အတွက် တမန်တော်မြတ်သည် စိတ်ဆင်းရဲခြင်းဖြစ်တော်မူရန် မလိုကြောင်းဖြင့် မိန့်ကြားထားတော်မူသည်။

>>

وَاللَّهُ أَنْزَلَ مِنَ السَّمَاءِ مَاءً فَأَحْيَا بِهِ الْأَرْضَ بَعْدَ مَوْتِهَا إِنَّ فِي ذَٰلِكَ لَآيَةً لِقَوْمٍ يَسْمَعُونَ ﴿٦٥﴾

၆၅။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည်ပင်လျှင် မိုးကောင်းကင်မှရေကို ချပေးသနားတော်မူလေသည်။ တဖန် ထိုအရှင်မြတ်သည် ထိုရေဖြင့် သေပြီးသော မြေကိုရှင်စေတော်မူလေသည်။ ဧကန်စင်စစ် ဤသည်၌ ကြားနာကြကုန်သောသူတို့အဖို့အမှန်ပင် သက်သေသာဓက ရှိပေသတည်း။ ၁

➤➤ အချို့မုဖတ်စ်စစ်ရ်များက ( فَهُوَ وَلِيُّهُمُ الْيَوْمَ ) ဟူသော အာယတ်တော်၏ အလိုသဘောမှာ "ရှေးသူဟောင်းများကို လွဲမှားစေခဲ့သော ရှိုင်တွာန်သည် ယနေ့ ဤမက္ကာမြို့သား ကာဖိရ် မုရှ်ရစ်က်များ၏ မိတ်ဆွေကြီးဖြစ်လျက် ရှိချေပြီ။

သို့ဖြစ်ရာ အတိတ်ခေတ် ကာဖိရ် မုရှ်ရစ်က်များ ဆုံးရှုံးပျက်စီး သွားခဲ့ကြသကဲ့သို့ ဤကာဖိရ်၊ မုရှ်ရစ်က်များသည်လည်း ဆုံးရှုံးပျက်စီးသွားကြပေမည်" ဟူ၍ အနက်ဖွင့်ကြပေသည်။

(၂) ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ပို့ချတော်မူခြင်းအကြောင်းရင်းမှာ အချို့လူသားများ သဘောကွဲလွဲ ငြင်းခုံနေကြသည့် တောင်ဟီးဒ်၊ အာခိရတ်၊ ဟလာလ်၊ ဟရာမ်အမိန့်ပညတ်အစရှိသည့် မှန်ကန်အရေးကြီးသည့် အစ္စလာမ်သာသနာ့မူများကို တမန်တော်မြတ်က ထင်းလင်းပြတ်သားစွာ ရှင်းပြရန်ပင်ဖြစ်သည်။

တစ်နည်းဆိုရသော် တမန်တော်မြတ်သည် ပြဿနာအရပ်ရပ်ကို ကုရ်အာန်ကျမ်းမြတ်ဖြင့် တိကျပြတ်သားစွာ အဆုံးအဖြတ်ပေးရန် တာဝန်မှာ တမန်တော်မြတ်၏ တာဝန်ပင်ဖြစ်သည်။ ယင်းသည့် အဆုံးအဖြတ်များကို နာခံခြင်း၊ မနာခံခြင်းသည် လူသားတို့၏ တာဝန်သာလျှင်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ "တောင်ဖီက်" စွမ်းအားပေးတော်မူခြင်းကို ခံယူရသူများသည် တမန်တော်မြတ်၏ အဆုံးအဖြတ်များကို ကြည်ဖြူစွာ လက်ခံနာယူ ကျင့်မူကြသည်သာဖြစ်သည်။ ထို့အတွက် တမန်တော်မြတ်သည် ကာဖိရ်၊ မုရှ်ရစ်က်များ၏ သွေဖည်မှုများကြောင့် စိတ်ဆင်းရဲခြင်း ဖြစ်တော်မူရန် မလိုပေ။

**(၁) သက်သေလက္ခဏာတော် - ၁။**

အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်မှမိုးရေကို ရွာသွန်းချပေးတော်မူ၍ သေနေသော၊ သွေ့ခြောက်နေသောမြေကို ပြန်လည်ရှင်စေတော်မူသည်။ စိမ်းစိုစေတော်မူသည်။ ဤသည် နေ့စဉ်နှင့်အမျှ တွေ့မြင်နေရသောကိစ္စပင်။ ဤသည် လူသားတို့၏ အလုပ်မဟုတ်၊ ကာဖိရ်၊ မုရှ်ရစ်က်တို့ ဆည်းကပ်ကိုးကွယ်နေကြသော ဘုရားကြီးငယ်များ၏ အလုပ်လည်းမဟုတ်၊ ဤသည် အလ္လာဟ်အရှင်မြတ်၏ အလုပ်သာဖြစ်သည်။ ထိုအရှင်မြတ်၏ ကျေးဇူးတော်သာဖြစ်သည်။

ဤသည်ကို ထောက်ရှုခြင်းအားဖြင့် ထိုအရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင်၊ အနန္တဉာဏ်တော်ရှင်၊ အနန္တကရုဏာတော်ရှင် ဖြစ်တော်မူကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။ ထို့ပြင်တဝ ကောက်ပဲသီးနှံများ ယခုကဲ့သို့ သေလိုက်၊ ရှင်လိုက်၊ ခြောက်လိုက်၊ စိုလိုက်ဖြစ်သည်ကို စဉ်းစားဆင်ခြင်ပါက မှန်ကန်သော ဉာဏ် အမြော်အမြင် ရှိသူတိုင်းသည် သေပြီးနောက် ရှင်ပြန် ထရမည်ကို လွယ်ကူစွာ စဉ်းစား ဆင်ခြင် သိရှိနိုင်ကြပေသည်။

وَإِنَّ لَكُمْ فِي الْأَنْعَامِ لَعِبْرَةً ۖ نُّسْقِيكُم مِّمَّا فِي بُطُونِهِ مِن بَيْنِ فَرْثٍ وَدَمٍ لَّبَنًا خَالِصًا سَائِغًا لِّلشَّارِبِينَ ﴿٦٦﴾

၆၆။ ထိုမှတပါး ဧကန်စင်စစ် အသင်တို့အဖို့ ခြေလေးချောင်းသတ္တဝါများ၌ အမှန်ပင် သင်ခန်းစာ ရှိပေသည်။ ငါအရှင်မြတ်သည် အသင်တို့အား ၎င်း၏ ဝမ်းဗိုက်တွင်းရှိ အစာဟောင်းနှင့်သွေး၏ အကြားမှ သန့်စင်၍ သောက်သုံးသူတို့အဖို့ အရသာ ရှိသော နို့ရည်ကို တိုက်ကျွေးတော်မူ၏။ ၁

وَمِن ثَمَرَاتِ النَّخِيلِ وَالْأَعْنَابِ تَتَّخِذُونَ مِنْهُ سَكَرًا وَرِزْقًا حَسَنًا ۗ إِنَّ فِي ذَٰلِكَ لَآيَةً لِّقَوْمٍ يَعْقِلُونَ ﴿٦٧﴾

၆၇။ ထိုမှတပါး စွန်ပလွံပင်များ၏ အသီးများ၌လည်းကောင်း၊ စပျစ်သီးများ၌လည်းကောင်း၊ အသင်တို့သည် ထိုအရာဖြင့် မူးယစ်စေသောအရာကိုလည်းကောင်း၊ ကောင်းမွန်သော စားကောင်းသောက်ဖွယ်ရာကိုလည်းကောင်း၊ ပြုလုပ်ကြကုန်၏။ ဧကန်စင်စစ် ဤသည်၌ သိနားလည်ကြသောသူတို့အဖို့ အမှန်ပင် သက်သေသာဓက ရှိပေသည်။

وَأَوْحَىٰ رَبُّكَ إِلَى النَّحْلِ أَنِ اتَّخِذِي مِنَ الْجِبَالِ بُيُوتًا وَمِنَ الشَّجَرِ وَمِمَّا يَعْرِشُونَ ﴿٦٨﴾

၆၈။ ၎င်းပြင် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ပျားကောင်၏ထံသို့ (ဤသို့) အမိန့်တော်ပေးတော်မူလေသည်။ ၂ အသင်သည် တောင်များ၌လည်းကောင်း၊ သစ်ပင်များ၌လည်းကောင်း၊ လူတို့တည်ဆောက်ကြကုန်သော အဆောက်အအုံများ၌လည်းကောင်း၊ (မိမိတို့) နေအိမ်များ ပြုလုပ် လေကုန်။ ၃

(၁) **သက်သေလက္ခဏာတော် -၂။**

ကုလားအုတ်၊ ကျွဲ၊ နွား၊ သိုး၊ ဆိတ် စသည့် ခြေလေးချောင်း တိရစ္ဆာန်များသည် မြက်ပင်၊ ဝါးပင်၊ သစ်ရွက် စသည်များကို စားကြသည်။ အလ္လာဟ်အရှင်မြတ်သည် ထိုသည့်တိရစ္ဆာန်များ၏ ဝမ်းဗိုက်များတွင် အုံမဆုံးနိုင်သည့် အစာအိမ်(ချက်စက်) တစ်ခု တပ်ဆင်ထားတော်မူသည်။ ထိုချက်စက်၏ကျေးဇူးဖြင့် ဝမ်းတွင်းသို့ ရောက်ရှိလာသော အစာအာဟာရများသည် ပုံသဏ္ဌာန် အမျိုးမျိုးပြောင်းလွဲကာ အသီးသီးစနစ်တကျ ကိုယ့်နေရာကိုယ် ရောက်ရှိသွားစေသည်။

(၂) ပျားကောင်သည် ဉာဏ်ထက်မြက်မှု၊ အမြော်အမြင်ကြီးမှု၊လက်ရာ ပြောင်မြောက်မှုတွင် တိရစ္ဆာန်လောက၌ အထူးကျော်ကြားပေသည်။ အနောက်နိုင်ငံ စာရေးဆရာကြီးများသည် ပျားကောင်၏ ဉာဏ်ထက်မြက်မှု၊ ➢➢

ثُمَّ كُلِى مِن كُلِّ الثَّمَرٰتِ فَاسْلُكِى سُبُلَ رَبِّكِ ذُلُلًا ۚ يَخْرُجُ مِنۢ بُطُونِهَا شَرَابٌ مُّخْتَلِفٌ اَلْوَانُهٗ فِيهِ شِفَآءٌ لِّلنَّاسِ ۗ اِنَّ فِى ذٰلِكَ لَاٰيَةً لِّقَوْمٍ يَتَفَكَّرُونَ ﴿٦٩﴾

၆၉။ ထို့နောက် အသင်သည် အသီးအနှံ အသီးသီး အသက, အသကတို့မှ (အရည်များကို) စုတ်ယူ စားသုံးလေလော့။ တဖန် အသင်သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ လွယ်ကူ လျက်ရှိသောလမ်းများကို လျှောက်လေလော့။ ယင်း ပျားကောင်၏ဝမ်းဗိုက်များမှ အရောင်မျိုးစုံရှိသော သောက်သုံးဖွယ်ရာ (ပျားရည်)သည် ထွက်လေသည်။ ယင်းသောက်သုံးဖွယ်ရာ၌ လူတို့အဖို့ *အနာရောဂါ ပျောက်ကင်းခြင်းသည် ရှိပေသည်။* [၁] ဧကန်မလွဲ ဤသည်၌ စဉ်းစားဆင်ခြင်တတ်သော သူတို့အဖို့ အမှန်ပင် သက်သေသာဓကသည် ရှိပေသတည်း။

---

➤➤ အကြံအစည်ကောင်းမှုများနှင့်စပ်လျဉ်း၍ ကျမ်းပေါင်းအမြောက်အမြားပင် ရေးသားခဲ့ကြပေသည်။ ထိုပျားကောင်များ ပြုလုပ်ထားသည့် ပျားအုံများကို ကြည့်ရှုပါက သပ်ယပ်မှု၊ သေသပ်မှု၊ စနစ်ကျမှု၊ အချိုးကျမှု၊ တိကျမှု၊ ပိရိမှု၊ သိပ်သည်းမှု၊ ခိုင်ခံ့မှု၊ လုပမှုများကို အလွန်ကျွမ်းကျင် တတ်မြောက်သော (Engineer, Geometer) တစ်ဦးဦးက ပြုလုပ် တည်ဆောက်ထားသည့်အလား အံ့ဖွယ်သရဲ တွေ့ရှိရပေသည်။

အလ္လာဟ်အရှင်မြတ်သည် ယင်းသည့်ပျားကောင်များထံသို့ "ဝဟီ" ပို့တော်မူသည်ဟု ဤ အာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။ ဤတွင် "ဝဟီ" သည် တမန်တော်များထံသို့ ပို့တော်မူသော ဝဟီနှင့် အဓိပ္ပာယ်တူ မဟုတ်ချေ။ ဝဟီ၏ မူလကျယ်ဝန်းသည့်အနက်ဖြစ်သော "စိတ်တွင် စကားတစ်ရပ်ကို ထည့်သွင်းပေးခြင်း" အနက်၌သာ ဖြစ်သည်။

(၃) ( مِمَّا يَعْرِشُونَ ) ဟူသည် လူသားတို့ တည်ဆောက်ထားကြသည့် အဆောက်အအုံများကိုလည်း ဆိုနိုင်သည်။ (ဘူးစင်၊ ဖရုံစင်) စပျစ်စင်စသည့် စင်များကိုလည်း ဆိုနိုင်သည်။ ( مما يعرشون من الشجر ومن الجبال ) ၌ပါရှိသော ( مِنْ ) သည် ( تبعيضية ) ဖြစ်သည်ဟု အချို့က အနက်ပေးသည်။ ဆိုလိုသည်ကား ပျားကောင်များသည် တောင်များ၊ သစ်ပင်များ၊ အဆောက်အအုံများအနက် သင့်တော်ရာ အချို့နေရာတွင် ပျားအုံ ပြုလုပ်ကြသည်ဟူ၍။ တောင်တိုင်း၊ သစ်ပင်တိုင်းနှင့် အဆောက်အအုံတိုင်းတွင် ပျားကောင်များသည် ပျားအုံ ပြုလုပ်ကြသည်ဟူ၍ကား မဟုတ်ပေ။

(၁) ပျားရည်သည် လူသားတို့၏ မြောက်မြားစွာသောရောဂါများကို ပျောက်ကင်းစေသည်။ များစွာသော ဆေးများတွင် ပျားရည်ကို ရေလဲသုံးနှင့်နေကြသည်မှာ မျက်မြင်ဒိဋ္ဌပင်။

တမန်တော်မြတ်က မိန့်ကြားတော်မူသည်မှာ- အသင်တို့သည် ရောဂါပျောက်ကင်းစေသော အရာနှစ်ခုကို ဆုပ်ကိုင်ထားကြရမည်။ ထိုအရာများကား ကုရ်အာန်ကျမ်းမြတ်နှင့် ပျားရည်တည်း။

တမန်တော်မြတ်က မိန့်ကြားတော်မူသည်မှာ- အကြင်သူသည် လစဉ် အာရုဏ်တက်ချိန်တွင် သုံးကြိမ် ပျားရည်ကိုလျက်သော် ထိုသူ၌ရောဂါကြီး တစ်စုံတစ်ရာ သက်ရောက်မည်မဟုတ်။ အီဗ်နုကဆီရ်။

وَاللَّهُ خَلَقَكُمْ ثُمَّ يَتَوَفَّاكُمْ
وَمِنكُم مَّن يُرَدُّ إِلَىٰ أَرْذَلِ
الْعُمُرِ لِكَيْ لَا يَعْلَمَ بَعْدَ عِلْمٍ
شَيْئًا إِنَّ اللَّهَ عَلِيمٌ قَدِيرٌ ٧٠

၇၀။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည်ပင် အသင်တို့အားဖန်ဆင်းတော်မူလေသည်။ တဖန်ထိုအရှင်မြတ်သည်ပင် အသင်တို့အား သေဆုံးစေတော်မူလေသည်။ ထို့ပြင် အသင်တို့တွင် အညံ့ဆုံးသော အသက်အရွယ်သို့ ပြန်ရောက်စေခြင်းကို ခံရသောသူများလည်း ရှိပေသည်။ နောက်ဆုံးတွင် ထိုသူများသည် သိပြီးနောက် (သတိပညာ ချွတ်ယွင်းသွားသောကြောင့်) မည်သည့် တစ်စုံတစ်ရာကိုမျှ သိနားလည်ခြင်း မရှိ(ကြ)တော့ချေ။ ဧကန်စင်စစ်အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို သိတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

وَاللَّهُ فَضَّلَ بَعْضَكُمْ عَلَىٰ بَعْضٍ
فِي الرِّزْقِ فَمَا الَّذِينَ فُضِّلُوا
بِرَادِّي رِزْقِهِمْ عَلَىٰ مَا مَلَكَتْ أَيْمَانُهُمْ
فَهُمْ فِيهِ سَوَاءٌ أَفَبِنِعْمَةِ اللَّهِ
يَجْحَدُونَ ٧١

၇၁။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည်ပင် အသင်တို့အနက် အချို့ကို အချို့ထက် *စားနပ်ရိက္ခာတိုးမြှင့်ပေးသနားတော်မူခဲ့၏။* [၁] သို့ရာတွင် (ယင်းကဲ့သို့) တိုးမြှင့်ခြင်းခံကြရသော သူတို့သည် မိမိတို့၏ ဝေစုဝေပုံကို မိမိတို့ပိုင်ဆိုင်ကြကုန်သော ကျေးကျွန်တို့အား ဤ(ဥစ္စာပစ္စည်း)အရာ၌ ၎င်းတို့ (ကျွန်နှင့်သခင်) အားလုံး သာတူညီမျှ ဖြစ်အံ့သောငှာ ခွဲဝေပေးမည့်သူများ မဟုတ်ကြချေ။ သို့ပါလျက် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ကို ငြင်းပယ်ကြလေသလော။

---

(၁) အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား ရိက္ခာစသည်များကို တစ်တန်းတစားတည်း ပေးထားတော်မူသည် မဟုတ်။ လူသားတို့၏အရည်အချင်း၊ အခြေအနေကွဲပြား ခြားနားသည့်အလျောက် ထိုအရှင်မြတ်သည် မိမိ၏ ‘ဟတ်က်မတ်’ တော်ဖြင့် အချို့တို့အား အချို့တို့ထက် အသာပေးထားတော်မူသည်။ (ကျိုးကြောင်း ဆက်စပ်လျက်ရှိသော ဤလူ့ဘောင်တွင် ဤအတိုင်းပင် ဖြစ်ရပေမည်။) အလ္လာဟ်အရှင်မြတ်သည် အချို့တို့အား ဥစ္စာဓနေ၊ ဩဇာအာဏာ ပေးထားတော်မူ၏။ ၎င်းတို့၏လက်အောက်တွင် ကျေးကျွန် အမြောက်အမြားရှိ၏။

ယင်းကျေးကျွန်များသည် မိမိတို့၏သခင်အား အစစအရာရာ မှီခိုကြရ၏။ ကျေးကျွန်များသည် ➤➤

وَاللّٰهُ جَعَلَ لَكُمْ مِّنْ اَنْفُسِكُمْ اَزْوَاجًا وَّجَعَلَ لَكُمْ مِّنْ اَزْوَاجِكُمْ بَنِيْنَ وَحَفَدَةً وَّرَزَقَكُمْ مِّنَ الطَّيِّبٰتِ ۭ اَفَبِالْبَاطِلِ يُؤْمِنُوْنَ وَبِنِعْمَتِ اللّٰهِ هُمْ يَكْفُرُوْنَ ۝

၇၂။ ထိုမှတပါး အလ္လာဟ်အရှင်မြတ်သည် အသင်တို့အဖို့ အသင်တို့ (အမျိုးအစားထဲ)မှပင် ဇနီးကြင်ရာများကို *ပြုလုပ်တော်မူခဲ့လေသည်။* [၁] ထိုနည်းတူစွာ ထိုအရှင်မြတ်သည် အသင်တို့အဖို့အသင်တို့၏ ဇနီးကြင်ရာများမှ သား၊ မြေးတို့ကို ပြုလုပ်(ထွန်းကား)စေတော်မူခဲ့လေသည်။ ထို့ပြင် အရှင်မြတ်သည် အသင်တို့ စားသုံးကြရန် ကောင်းမွန်သောအရာများကို ချီးမြှင့် ပေးသနားတော်မူခဲ့လေသည်။ သို့ပါလျက် ၎င်းတို့သည် အချည်းအနှီးသောအရာကို သက်ဝင်ယုံကြည်၍ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို ငြင်းပယ်လျက် ရှိနေကြမည်လော။

---

➤➤ ကြေးနီပိုက်ဆံတစ်ပြားကိုမျှ မပိုင်ကြချေ။ ၎င်းတို့၌အခွင့်အာဏာ တစ်စုံတစ်ရာမျှလည်း မရှိချေ။ ၎င်းတို့သည် အခါခပ်သိမ်း မိမိတို့သခင်၏ အမိန့်ကိုသာနားစွင့်၍ နေကြရပေသည်။

ဤသည့်အခြေအနေတွင် ကျွန်တစ်ဦးက သခင်ဖြစ်သူတစ်ဦး၏ ဥစ္စာပစ္စည်း၊ ဂုဏ်အင်ဒြပ်၊ ဇနီးကြင်ရာစသည်တို့ကို သခင်နှင့်တန်းတူ ပိုင်ဆိုင်သည်ဟု အဆိုပြုလာပါက ဤသို့ အဆိုပြုချက်ကို သခင်ဖြစ်သူသည် ကျေနပ်ပါမည်လော၊ လက်ခံနိုင်ပါမည်လော၊ အလျင်း ကျေနပ်မည်မဟုတ်၊ အလျင်း လက်ခံမည်မဟုတ်။

ကျေးကျွန်တစ်ဦးအား ကျေးကျွန်ဖြစ်နေသည့်အချိန်တွင် တစ်စုံတစ်ရာ အပိုင်ပေးသော်လည်း "ရှရီအတ်" ဥပဒေအရ ထိုကျေးကျွန်သည် ထိုပစ္စည်းကို မပိုင်ဆိုင်ပေ။ ၎င်းအားပိုင်ဆိုင်သော သခင်သာလျှင် ပိုင်ဆိုင်ပေသည်။ အကယ်၍ သခင်ဖြစ်သူသည် မိမိ၏ကျွန်အား ကျွန်အဖြစ်မှ လွတ်မြောက်စေပြီးနောက် မိမိပိုင်ဆိုင်သောပစ္စည်းများတွင် ပိုင်ဆိုင်သူတစ်ဦးအဖြစ် ထည့်သွင်းပါက ထိုသူသည် ပိုင်ဆိုင်သူတစ်ဦး ဖြစ်သွားပေမည်။ သို့ရာတွင် ထိုအချိန်တွင် အဆိုပါကျွန်သည် ကျွန်မဟုတ်တော့ပေ။

အသို့ပင်ဖြစ်စေကာမူ သခင်နှင့်ကျွန်သည် အလျင်းမတူနိုင်ပေ။ ကျွန်သည်ကျွန်ပင်ဖြစ်၍ သခင်သည် သခင်ပင်။ ကျွန်သည် ကျွန်ဖြစ်နေသမျှ ကာလပတ်လုံး သခင်နှင့်တန်းတူ မဖြစ်နိုင်ပေ။ ကျွန်နှင့်တန်းတူ အခွင့်အရေးသည် ပေါင်းစပ်၍ အလျင်းမဖြစ်နိုင်။

(၁) အလ္လာဟ်အရှင်မြတ်သည် လူသားများအဖို့ ၎င်းတို့၏ အမျိုးအစားထဲမှပင် ကြင်ရာများကို ဖန်ဆင်းတော်မူသည်။ သို့မှသာလျှင် အချင်းချင်း ချစ်ချစ်ခင်ခင် ကြင်ကြင်နာနာ ရှိကြမည်။ ဖန်ဆင်းတော်မူခြင်း၏ ရည်ရွယ်ချက်လည်း ပြည့်ဝပေမည်။ ကြည့်-ကုရ်အာန် (၃၀း၂၁)။ ထို့ပြင်တဝ ထိုအရှင်မြတ်သည် ယင်းဇနီးမောင်နှံတို့မှ သားမြေးမြစ်တို့ကိုလည်း ပေါက်ပွားစေတော်မူသည်။ ဤသို့အားဖြင့် လူမျိုးကိုလည်း တည်မြဲစေတော်မူသည်။

ထိုမှတပါး ထိုအရှင်မြတ်သည် လူသားအားလုံးတို့အား ကောင်းမွန်သော စားဖွယ်သောက်ဖွယ်များကိုလည်း ပေးသနားထားတော်မူသည်။ ဤသို့အားဖြင့် လူသားအားလုံးတို့အား တစ်ဦးချင်းအနေဖြင့်လည်း ➤➤

၇၃။ ထို့ပြင် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်မှ
တပါး အကြင်ကဲ့သို့သောအရာများကို ဆည်းကပ်
ကိုးကွယ်ကြမည်။ ထိုအရာများသည် ၎င်းတို့အား
မိုးကောင်းကင်များမှလည်းကောင်း၊ ပထဝီမြေမှ
လည်းကောင်း၊ ရိက္ခာပို့ဆောင်ခြင်း တစ်စုံတစ်ရာကိုမျှ
ပြုနိုင်ခွင့်လည်းမရှိချေ။ ပြုနိုင်စွမ်းလည်းမရှိကြချေ။

၇၄။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်
မြတ်နှင့်ပတ်သက်၍ ဥပမာ ပုံဆောင်ချက်များကို
မခိုင်းနှိုင်းကြကုန်လင့်။ ဧကန်စင်စစ် အလ္လာဟ်အရှင်
မြတ်သည် သိတော်မူ၏။ သို့ရာတွင် အသင်တို့မူကား
မသိကြချေ။ [၁]

وَيَعْبُدُونَ مِن دُونِ اللَّهِ
مَا لَا يَمْلِكُ لَهُمْ رِزْقًا مِّنَ
السَّمَاوَاتِ وَالْأَرْضِ شَيْئًا
وَلَا يَسْتَطِيعُونَ ﴿٧٣﴾
فَلَا تَضْرِبُوا لِلَّهِ الْأَمْثَالَ ۚ
إِنَّ اللَّهَ يَعْلَمُ وَأَنتُمْ
لَا تَعْلَمُونَ ﴿٧٤﴾

---

➤➤ တည်မြဲစေတော်မူသည်။ ဤသို့အားဖြင့် လူသားတို့၏ဘဝသည် သာယာလျက်ရှိပေသည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင်။

သို့တစေလည်း ကာဖိရ်၊ မုရှ်ရစ်က်တို့သည် ကျေးဇူးတော်ရှင် အစစ်အမှန်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အား ကျေးဇူးတင်ကြရမည့်အစား၊ အဘယ်တစ်စုံတစ်ရာကိုမျှ မစွမ်းဆောင်နိုင်သော ၎င်းတို့ကိုယ်တိုင် ပြုလုပ်ထားသည့် ကိုးကွယ်ရာများကို ကျေးဇူးတင်ကြပေသည်။ ဤကား မိုက်မဲခြင်း၊ ကျေးဇူးကန်းခြင်းပင် မဟုတ်ပါလော။

(၁) မုရှ်ရစ်က်များက "အရာခပ်သိမ်းတို့ကို စိုးပိုင်တော်မူသော အရှင်မှာ အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။ ၎င်းတို့၏ ကိုးကွယ်ရာများသည်လည်း ထိုအရှင်မြတ်ထံတော်တွင် အခွင့်အာဏာ ရရှိထားကြသည်။ ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်ထံတော်သို့ တိုက်ရိုက် မချဉ်းကပ်နိုင်ကြပေ၊ ထိုကိုးကွယ်ရာများမှတဆင့် ချဉ်းကပ်ကြရပေသည်၊ ထို့အတွက်ကြောင့် ယင်း ကိုးကွယ်ရာများကို ကျွန်ုပ်တို့သည် ချဉ်းကပ်ကြရသည်" ဟု ပုံဆောင်ပြောဆိုကြရသည်။

မုရှ်ရစ်က်များသည် တစ်နည်းအားဖြင့် အလ္လာဟ်အရှင်မြတ်အား လူ့လောကရှိ ဘုရင်များ၊ သမ္မတများနှင့် နှိုင်းယှဉ်ပြောဆိုခြင်းဖြစ်သည်။ ဘုရင့်ထံသို့ဝင်ရန် မှူးမတ်တို့အား ချဉ်းကပ်ရသကဲ့သို့ အလ္လာဟ်အရှင်မြတ်ထံတော်ပါးသို့ ချဉ်းကပ်နိုင်ရန် ၎င်းတို့သည် မိမိတို့၏ ကိုးကွယ်ရာများကို ချဉ်းကပ်ကြရပါသည်ဟု ဆိုလိုကြသည်။ ဤသို့ပုံဆောင် ပြောဆိုခြင်းမှာ လုံးဝမှားသည်၊ ၎င်းတို့၏ ပုံဆောင်ပြောဆိုချက်သည် အလ္လာဟ်အရှင်မြတ်နှင့်လည်း အလျှင်းမဟပ်မိပေ။

အလ္လာဟ်အရှင်မြတ်သည် တန်းခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသည်၊ ထိုအရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို တိုက်ရိုက်ဖြစ်စေ၊ တစ်ဆင့်ဖြစ်စေ ကိုယ်တော်တိုင် ပြုလုပ်တော်မူသည်။ လူ့လောကတွင် ဘုရင်များ၊ သမ္မတများသည် အစစအရာရာကို မိမိတို့ကိုယ်တိုင် ပြုလုပ်နိုင်ကြသည်မရှိပေ၊➤➤

ضَرَبَ اللّٰهُ مَثَلًا عَبْدًا مَّمْلُوكًا لَّا يَقْدِرُ عَلٰى شَيْءٍ وَّمَنْ رَّزَقْنٰهُ مِنَّا رِزْقًا حَسَنًا فَهُوَ يُنْفِقُ مِنْهُ سِرًّا وَّجَهْرًا ۖ هَلْ يَسْتَوٗنَ ۚ اَلْحَمْدُ لِلّٰهِ ۚ بَلْ اَكْثَرُهُمْ لَا يَعْلَمُوْنَ ﴿٧٥﴾

၇၅။ အလ္လာဟ်အရှင်မြတ်သည် ဥပမာတစ်ရပ်ကို ခိုင်းနှိုင်းတော်မူခဲ့၏။ (ယင်းဥပမာကား) သူတစ်ပါး ပိုင် ကျွန်တစ်ယောက်ရှိ၏။ ထိုကျွန်သည် မည်သည့် အရာကိုမျှ စွမ်းဆောင်နိုင်ခွင့် မရှိချေ။ ထို့ပြင် ငါအရှင်မြတ်က မိမိအထံတော်မှ ရိက္ခာပေါများစွာ ချီးမြှင့်ထားတော်မူသောသူတစ်ယောက်ရှိ၏။ ထိုသူ သည် ယင်းရိက္ခာများမှ လျှို့ဝှက်စွာလည်းကောင်း၊ ထင်ရှားစွာလည်းကောင်း၊ လှူဒါန်းသုံးစွဲ၏။ ၎င်းတို့ သည် တူညီနိုင်ကြပါမည်လော။ ချီးမွမ်းထောပနာ အပေါင်းတို့သည်အလ္လာဟ်အရှင်မြတ်နှင့်သာသက်ဆိုင် ၏။ သို့ရာတွင် ၎င်းတို့အနက် အများဆုံးသောသူတို့မှာ မသိ နားမလည်ကြချေတကား။

وَضَرَبَ اللّٰهُ مَثَلًا رَّجُلَيْنِ اَحَدُهُمَآ اَبْكَمُ لَا يَقْدِرُ عَلٰى

၇၆။ ထိုနည်းတူစွာ အလ္လာဟ် အရှင်မြတ်သည် (အခြား) ဥပမာတစ်ရပ်ကို(လည်း) ခိုင်းနှိုင်းတော်မူခဲ့ လေသည်။ (ယင်းဥပမာကား) လူနှစ်ယောက်ရှိကြ၏။

---

➤➤ ထိုအတွက် အချို့အမှုထမ်းတို့အား၊ အချို့အခွင့်အာဏာများကို လွှဲအပ်ထားကြရသည်။ ယင်းသို့ အခွင့်အာဏာများကို လွှဲအပ်ပြီးနောက်ပိုင်းတွင် ထိုအမှုထမ်းများသည် အဆိုပါ အခွင့်အာဏာများကို အသုံးပြုရာ၌ လွပ်လပ်ကြသည်။

ဥပမာ– တရားလူကြီးတစ်ဦးသည် မိမိအား အပ်နှင်းထားသော အခွင့်အာဏာနှင့်အညီ အမှုများကို စီရင်ဆုံးဖြတ်သည်။ ယင်းသို့ စီရင်ဆုံးဖြတ်သည့်အချိန်တွင် ဘုရင်မင်းမြတ်သည် ထိုသည့် အမှုများအကြောင်းကို လည်း မသိချေ၊ တရားသူကြီး၏ စီရင်ဆုံးဖြတ်ချက်များကိုလည်း မသိချေ၊ တရားသူကြီး၏ စီရင်ဆုံးဖြတ်ရာတွင် တစ်စွန်းတစ်စ စွက်ဖက်သည်လည်း မရှိပေ။

အလ္လာဟ်အရှင်မြတ်မှာမူကား ဤသို့အလျှင်းမဟုတ်ပေ။ အရာခပ်သိမ်းတို့သည် တိုက်ရိုက်ဖြစ်စေ၊ တစ်ဆင့်ဖြစ်စေ၊ အလ္လာဟ်အရှင်မြတ်၏ အလိုတော်သာဖြစ်သည်။ ထိုအရှင်မြတ်သည် အရာခပ်သိမ်း ဖြစ်ပေါ်ရခြင်း၏ မူရင်းအကြောင်းပင် ဖြစ်တော်မူသည်။ ထိုအတွက် လူသားတို့သည် အလ္လာဟ်အရှင်မြတ်အား သာလျှင် တိုက်ရိုက် ချဉ်းကပ်ကြရပေမည်၊ တိုက်ရိုက် ကိုးကွယ်ကြရပေမည်၊ စပ်ကြားတွင် အဆက်အသွယ်၊ အောင်သွယ်များထားရန် အလျှင်မလိုပေ။ ထားရန်အကြောင်းလည်းမရှိပေ။ ဤသည့်သဘောကို ရည်ညွှန်း၍ ဤအာယတ်တော်တွင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ ဥပမာပုံဆောင်ချက်များကို မခိုင်းနှိုင်းကြကုန်လင့်ဟု မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

شَيْءٍ وَّهُوَ كَلٌّ عَلٰى مَوْلٰىهُ ۙ اَيْنَمَا يُوَجِّهْهُّ لَا يَاْتِ بِخَيْرٍ ؕ هَلْ يَسْتَوِيْ هُوَ ۙ وَمَنْ يَّاْمُرُ بِالْعَدْلِ ۙ وَهُوَ عَلٰى صِرَاطٍ مُّسْتَقِيْمٍ ﴿٧٦﴾

ထိုလူနှစ်ယောက်အနက် တစ်ယောက်မှာ ဆွံ့အသူဖြစ်ပေရာ မည်သည့်တစ်စုံတစ်ရာကိုမျှ စွမ်းဆောင်နိုင်ခြင်းမရှိချေ။ ထိုမှတပါး ၎င်းသည် မိမိအရှင်သခင်အပေါ်၌ ဝန်ထုပ်တစ်ခုလည်း ဖြစ်လျက်ရှိပေသည်။ ထိုသခင်သည် ၎င်းအား မည်သည့်နေရာသို့မဆို စေလွှတ်ခဲ့ပါလျှင် ထိုသူသည် တစ်စုံတစ်ရာ ကောင်းကျိုးကို ဆောင်ကြဉ်းလာသည်မရှိချေ။ ထိုသို့သော သူသည် (သူတပါးတို့အား) တရားမျှတမှုကို ညွှန်ကြားသည့်ပြင် မိမိကိုယ်တိုင်လည်း ဖြောင့်မတ်မှန်ကန်သောလမ်းပေါ်၌ တည်ရှိနေသောသူနှင့် တူညီနိုင်ပါမည်လော။ (အလျှင်း မတူနိုင်ပေ)။

وَلِلّٰهِ غَيْبُ السَّمٰوٰتِ وَالْاَرْضِ ؕ وَمَاۤ اَمْرُ السَّاعَةِ اِلَّا كَلَمْحِ الْبَصَرِ اَوْ هُوَ اَقْرَبُ ؕ اِنَّ اللّٰهَ عَلٰى كُلِّ شَيْءٍ قَدِيْرٌ ﴿٧٧﴾

၇၇။ စင်စစ်သော်ကား မိုးကောင်းကင်များ၌ ရှိကုန်သော လျှို့ဝှက်ချက်များသည်လည်းကောင်း၊ ပထဝီမြေ၌ရှိကုန်သော လျှို့ဝှက်ချက်များသည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်နှင့်သာ သက်ဆိုင်၏။ ထိုမှတပါး ရှင်ပြန်ထမည့်ကိစ္စသည် မျက်စိတစ်မိုတ်ကဲ့သို့သာလျှင် လျင်မြန်စွာဖြစ်မည်။ ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကား (ထိုထက်ပင်) ပို၍လျင်မြန်စွာဖြစ်မည်။ မုချဧကန် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَاللّٰهُ اَخْرَجَكُمْ مِّنْۢ بُطُوْنِ اُمَّهٰتِكُمْ لَا تَعْلَمُوْنَ شَيْـًٔا ۙ وَّجَعَلَ لَكُمُ السَّمْعَ وَالْاَبْصَارَ

၇၈။ ထို့ပြင် အလ္လာဟ်အရှင်မြတ်သည်ပင် အသင်တို့အား အသင်တို့၏ မိခင်များ၏ဝမ်းတွင်းမှ ထွက်စေတော်မူခဲ့လေသည်။ ထိုအချိန်တွင် အသင်တို့ တစ်စုံတစ်ရာကိုမျှ မသိကြသေး။ ထိုမှတပါး ထိုအရှင်မြတ်သည် အသင်တို့ ကျေးဇူးတော်ကို သိတတ်ကြအံ့သောငှာ အသင်တို့အဖို့ ကြားနိုင်စွမ်းကိုလည်းကောင်း၊

وَالْأَفْئِدَةَ ۙ لَعَلَّكُمْ تَشْكُرُونَ ﴿٧٨﴾

မြင်နိုင်စွမ်းကိုလည်းကောင်း၊စိတ်နှလုံးကိုလည်းကောင်း၊ ထည့်သွင်းပေးတော်မူခဲ့လေသည်။ [၁]

أَلَمْ يَرَوْا إِلَى الطَّيْرِ مُسَخَّرَاتٍ
فِي جَوِّ السَّمَاءِ مَا يُمْسِكُهُنَّ
إِلَّا اللَّهُ ۗ إِنَّ فِي ذَٰلِكَ
لَآيَاتٍ لِقَوْمٍ يُؤْمِنُونَ ﴿٧٩﴾

**၇၉။** ကောင်းကင်လေထု (လဟာပြင်)၌ ငှက်တိရစ္ဆာန်များ အမိန့်တော်ကို လိုက်နာလျက်ရှိကြသည်ကို ၎င်းတို့သည် မမြင်ကြလေသလော။ ယင်းငှက်တိရစ္ဆာန်တို့အား အလ္လာဟ်အရှင်မြတ်မှတပါး အခြားမည်သူ တစ်ဦးတစ်ယောက်မျှ ထိန်းထားသည် မဟုတ် ပေ။ ဧကန်မလွဲ ဤ (ငှက်တိရစ္ဆာန်တို့ ပျံဝဲခြင်း)၌ မုအ်မင်န်သက်ဝင် ယုံကြည်သူတို့အဖို့ အမှန်ပင် သက်သေလက္ခဏာများ ရှိကြပေသည်။

وَاللَّهُ جَعَلَ لَكُمْ مِنْ بُيُوتِكُمْ
سَكَنًا وَجَعَلَ لَكُمْ مِنْ جُلُودِ
الْأَنْعَامِ بُيُوتًا تَسْتَخِفُّونَهَا
يَوْمَ ظَعْنِكُمْ وَيَوْمَ إِقَامَتِكُمْ ۙ
وَمِنْ أَصْوَافِهَا وَأَوْبَارِهَا

**၈၀။** ထိုမှတပါး အလ္လာဟ်အရှင်မြတ်သည် အသင်တို့အဖို့အသင်တို့၏အိမ်များကို နေထိုင်ရာဌာန ပြုလုပ်တော်မူခဲ့လေသည်။ ၎င်းပြင်ထိုအရှင်မြတ်သည် အသင်တို့အဖို့ ခြေလေးချောင်းတိရစ္ဆာန်များ၏ သားရေများဖြင့် အိမ်များပြုလုပ်တော်မူခဲ့၏။ အသင်တို့သည် ယင်းအိမ်များကို မိမိတို့ခရီးသွားသော နေ့တွင်လည်းကောင်း၊ မိမိစခန်းချသော နေ့တွင်လည်းကောင်း၊ ပေါ့ပေါ့ ပါးပါး တွေ့ရှိကြပေသည်။

---

(၁) ကမ္ဘာအဝန်းကို အလ္လာဟ်အရှင်မြတ်ပင် ဖန်ဆင်းတော်မူသည်။ လူသားတို့အားလည်း အလ္လာဟ်အရှင်မြတ်ပင် ဖန်ဆင်းတော်မူသည်။ လူသားတို့သည် အမိဝမ်းဗိုက်တွင်း၌ သန္ဓေတည်ပုံ၊ အဆင့်ဆင့်ကြီးထွားလာပုံ၊ မွေးဖွားလာပုံများကိုပင် စဉ်းစားဆင်ခြင်မြော်မြင်ပါက အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်အနန္တကို ကောင်းစွာသိနိုင်ပေသည်။

လူသားတို့သည် အမိဝမ်းတွင်းမှ မွေးဖွားလာသည့်အချိန်တွင် အဘယ်တစ်စုံတစ်ရာကိုမျှ မသိနားမလည်နိုင်သေးပေ။ အလ္လာဟ်အရှင်မြတ်သည်ပင် မိမိ၏ကျေးဇူးတော်ဖြင့် နား၊ မျက်စိ၊ စိတ်နှလုံး စသည့် အံ့ချီးမဆုံးသည့် စွမ်းရည်သတ္တိများကို ချီးမြှင့်ထားတော်မူသည်။ ဤသည့်သတ္တိများသည် အလွန်ကြီးမားသော ကျေးဇူးတော်များဖြစ်သည်သာမက ထောင်ပေါင်းများစွာသော ကျေးဇူးတော်များကို ခံစားနိုင်ရန်အတွက် အကြောင်းတရားများလည်း ဖြစ်ပေသည်။ ကျေးဇူးတော်များကို ထားဘိဦး။ ဤသည့် နား၊ မျက်စိ၊ စိတ်နှလုံးများမရှိပါက လူသားများသည် တိရစ္ဆာန်များနှင့် ခြားနားကြမည်မဟုတ်ပေ။ ထို့ပြင်တဝ ကမ္ဘာတိုးတက်မှု အရပ်ရပ်သည်လည်း အလိုအလျောက် ရပ်တန့်သွားပေမည်။



وَاَشْعَارِهَاۤ اَثَاثًا وَّمَتَاعًا اِلٰى حِيْنٍ ۝٨٠

ငင်းပြင် ယင်းတိရစ္ဆာန်များ၏ သိုးမွေးများဖြင့်လည်းကောင်း၊ ယင်းတိရစ္ဆာန်များ၏ သားမွေးများဖြင့်လည်းကောင်း၊ ယင်းတိရစ္ဆာန်များ၏ အမွေးအမှင်များဖြင့်လည်းကောင်း၊ အိမ်သုံးပစ္စည်းများနှင့် (အချိန်ကာလကြာမြင့်စွာ) အကျိုးခံစားဖွယ် ဝတ္ထုပစ္စည်းများကို ပြုလုပ်တော်မူခဲ့လေသည်။

وَاللّٰهُ جَعَلَ لَكُمْ مِّمَّا خَلَقَ ظِلٰلًا وَّجَعَلَ لَكُمْ مِّنَ الْجِبَالِ اَكْنَانًا وَّجَعَلَ لَكُمْ سَرَابِيْلَ تَقِيْكُمُ الْحَرَّ وَسَرَابِيْلَ تَقِيْكُمْ بَاْسَكُمْ كَذٰلِكَ يُتِمُّ نِعْمَتَهٗ عَلَيْكُمْ لَعَلَّكُمْ تُسْلِمُوْنَ ۝٨١

၈၁။ ငင်းပြင် အလ္လာဟ်အရှင်မြတ်သည်ပင် အသင်တို့အဖို့ မိမိဖန်ဆင်းတော်မူသော အချို့အရာများမှ အရိပ်ဆာယာများကို ပြုလုပ်တော်မူခဲ့လေသည်။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည် အသင်တို့အဖို့ တောင်များ၌ ခိုလှုံရာ နေရာများကို ပြုလုပ်တော်မူခဲ့လေသည်။ ထို့အတူ ထိုအရှင်မြတ်သည် အသင်တို့အကျိုးငှာ အသင်တို့အား အပူရှိန်မှကာကွယ်သော အဝတ်အစားများကို လည်းကောင်း၊ အသင်တို့အား (စစ်လက်နက်များ၏ အန္တရာယ်မှ ကာကွယ်သော အဝတ်အစားများကိုလည်းကောင်း၊ ဖန်ဆင်းတော်မူခဲ့လေသည်။ ဤနည်းအတိုင်းပင် ထိုအရှင်မြတ်သည် အသင်တို့ အမိန့်တော်ကို လိုက်နာကြအံ့သောငှာ မိမိကျေးဇူးတော်ကို အသင်တို့အပေါ်ဝယ် အပြည့်အစုံ ချပေးသနားတော်မူပေသတည်း။ ၁

➤➤ ကလေးသူငယ်များသည် ကြီးပြင်းလာသည်နှင့်အမျှ အသိဉာဏ်အပြုအမူဆိုင်ရာ စွမ်းရည်သတ္တိများလည်း ပွားများရင့်ကျက်လာပေသည်။သို့ဖြစ်ပေရာ လူသားတို့သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို သိကြရပေမည်။ ထိုအရှင်မြတ် ချီးမြှင့်ထားတော်မူသော စွမ်းရည်သတ္တိများကို ထိုအရှင်မြတ်၏လမ်းတော်၌ပင် အသုံးပြုကြရပေမည်။

ဤသည် ကျေးဇူးသိတတ်ခြင်းပင်။ ထိုအရှင်မြတ် ချီးမြှင့်ထားတော်မူသော စွမ်းရည်သတ္တိများကို ထိုအရှင်မြတ်အား သွေဖည်ဆန့်ကျင်ရာတွင် အလျင်းအသုံးမပြုရပေ။ ဤသည် ကျေးဇူးကန်းခြင်းပင်။ ကျေးဇူးသိတတ်သူသည် အမြဲထာဝစဉ်ကောင်းစား၍ ကျေးဇူးကန်းသူသည် အမြဲထာဝစဉ် ပျက်စီးသည်သာတည်း။

(၁) အထူး စဉ်းစားဆင်ခြင်အပ်သည်မှာ- အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် လူသားတို့အဖို့ လိုအပ်သည့်အရာ ဟူဟူသမျှကို လိုလေးသေးမရှိ၊ အပြည့်အဝ စီစဉ်ပေးထားတော်မူသည်။ စွမ်းရည်သတ္တိ➤➤

فَإِنْ تَوَلَّوْا فَإِنَّمَا عَلَيْكَ الْبَلٰغُ الْمُبِيْنُ ﴿٨٢﴾

၈၂။ သို့ပါလျက် အကယ်၍ ၎င်းတို့သည် မျက်နှာလွှဲဖယ်ခဲ့ကြပါလျှင် (အို-နဗီတမန်တော်) အသင်၏အပေါ်၌ (ငါအရှင်မြတ်၏ အမိန့်တော်များကို) အတိအလင်း ပို့ဆောင်ရန်တာဝန်သာလျှင်ရှိပေသတည်း၊[၁]

يَعْرِفُوْنَ نِعْمَتَ اللّٰهِ ثُمَّ يُنْكِرُوْنَهَا وَأَكْثَرُهُمُ الْكٰفِرُوْنَ ﴿٨٣﴾

၈၃။ (စင်စစ်သော်ကား) ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို ဝန်ခံကြကုန်၏။ ထို့နောက် ၎င်းတို့သည် ယင်းကျေးဇူးတော်များကို ငြင်းပယ်ကြကုန်၏။ [၂] (တနည်း) ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို သိမှတ်ကြကုန်၏။ ထို့နောက် ၎င်းတို့သည် ယင်းကျေးဇူးတော်များကို မသိလေဟန် ဆောင်ကြကုန်၏။ ထိုမှတပါး ၎င်းတို့အနက် မြောက်မြားစွာသောသူတို့ကား ကာဖိရ် မယုံမကြည် သွေဖည်ငြင်းပယ်သောသူတို့ပင် ဖြစ်ကြကုန်သတည်း။

---

➤➤ အမျိုးမျိုးကိုလည်း ချီးမြှင့်ထားတော်မူသည်။ ထိုသည့်စွမ်းရည်သတ္တိများဖြင့် လူသားတို့သည် မိုးပျံမြေလျှိုးလျက်ရှိကြသည်။ လူ့လောကကြီးတွင် အမျိုးမျိုး ချယ်လှယ်လျက် ရှိကြပေသည်။

ရုပ်လောကအတွက် ဤမျှအံ့မခန်း ကျေးဇူးပြုထားတော်မူသော ကျေးဇူးတော်ရှင်တပါးသည် နာမ်လောကအတွက် ကျေးဇူးမပြုဘဲ အသို့လျှင် ရှိတော်မူအံ့နည်း။ ရုပ်လောကအတွက် အတိုင်းမသိ ကျေးဇူးတော်များ ပြုထားတော်မူသကဲ့သို့ နာမ်လောကအတွက်လည်း အတိုင်းမသိကျေးဇူးတော်များ ပြုထားတော်မူသည်မှာ အထင်အရှားပင်။ ဤသည့်အကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်-(၅:၃)တွင် အောက်ပါအတိုင်း မိန့်ဆိုထားတော်မူသည်။

ယနေ့ ငါအရှင်မြတ်သည် အသင်တို့အဖို့ အသင်တို့၏ သာသနာကို ပြည့်စုံစေတော်မူလိုက်ပြီ။ ၎င်းပြင် ငါအရှင်မြတ်သည် အသင်တို့အပေါ်၌ မိမိ၏ကျေးဇူးတော်ကို ပြည့်စုံစေတော်မူလိုက်ပြီ။ ၎င်းပြင် ငါအရှင်မြတ်သည် အသင်တို့အဖို့ သာသနာအဖြစ် "အစ္စလာမ်" ကို နှစ်သက်တော်မူသည်။

သို့ဖြစ်ရာ လူသားအားလုံးတို့သည် ဤသို့ကျေးဇူးတော်အနန္တနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို သိကြရမည်။ ကျေးဇူးသိသောအားဖြင့် ထိုအရှင်မြတ်အား ခဝပ်ကိုးကွယ်ကြရမည်သာ ဖြစ်သည်တည်း။

(၁) အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များသည် ဤရွေ့ဤမျှ များပြားသည်ကိုသိရှိပြီး နောက်သော်မှပင် ကျေးဇူးမသိတတ်ကြလျှင် တမန်တော်မြတ်သည် ထိုသို့သောကျေးဇူးကန်းသူများအတွက် ပူပန်နေရန်မလိုပေ၊ ➤➤

وَيَوْمَ نَبْعَثُ مِن كُلِّ أُمَّةٍ شَهِيدًا ثُمَّ لَا يُؤْذَنُ لِلَّذِينَ كَفَرُوا وَلَا هُمْ يُسْتَعْتَبُونَ ﴿٨٤﴾

၈၄။ ၎င်းပြင် (အို-နဗီတမန်တော် အသင်သည် မိမိအမျိုးသားတို့များအား) အကြင်နေ့(၏အကြောင်း) ကို (ပြောပြပါလေ)။ ငါအရှင်မြတ်သည် (ထိုနေ့တွင်) သာသနာဝင် အုပ်စုတိုင်းမှ သက်သေတစ်ဦးကို ထူ တော်မူမည်။ ထို့နောက် ကာဖိရ် သွေဖည်ငြင်းပယ် သောသူတို့အဖို့ (အကြောင်းပြနိုင်ရန်) ခွင့်ပြုခြင်း လည်းခံရမည် မဟုတ်ပေ။ ထိုမှတပါး ထိုသွေဖည် ငြင်းပယ်သော သူတို့သည် ကျေရာကျေကြောင်း ပြုလုပ်ရန် တောင်းဆိုခြင်းကိုလည်း ခံကြရမည် မဟုတ်ပေတကား။ ၁

➤➤ တမန်တော်မြတ်သည် မိမိ၏တာဝန်ကို ကျေပွန်စွာဆောင်ရွက်ပြီးဖြစ်သည်။ ဟောကြားရန်ရှိသည်များကို တခွန်းတပါဒမျှမကျန် ဟောကြားပြီးဖြစ်သည်။ သို့ဖြစ်ရာ ယင်းကဲ့သို့သော ကျေးဇူးကန်းသူတို့အား အလ္လာဟ်အရှင်မြတ်ထံသို့သာ လွှဲအပ်ရန်ရှိပေသတည်း။

(၂) အစ္စလာမ်ကို မုရှ်ရစ်က်များ သွေဖည်ငြင်းဆန်ခြင်းမှာ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို လုံးဝမသိကြ၍မဟုတ်။ ၎င်းတို့သည် ထိုအရှင်မြတ်၏ ကျေးဇူးတော်များကို သိကြပေသည်။ သို့ပါလျက် ၎င်းတို့သည် လက်တွေ့တွင်မူ ငြင်းဆိုကြသည်။ ကျေးဇူးတော်ရှင် အစစ်ကိုစွန့်၍ ကျေးဇူးရှင်မဟုတ်သည့် ၎င်းတို့ကိုယ်တိုင် ကိုးကွယ်ရာအဖြစ် သတ်မှတ်ထားသည့်အရာများကို ဆည်းကပ်ကိုးကွယ်ကြသည်။ ထိုအရာများ သည် ၎င်းတို့အား ကယ်တင်ကြလိမ့်မည်ဟု ပြောဆိုကြသည်။

အဆိုတစ်ရပ်အရ ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ဟူသည် တမန်တော်မြတ် ၏ တမန်တော်ဖြစ်မှုကိုဆိုလိုသည်။ ဆိုလိုသည်ကား မုရှ်ရစ်က်များသည် တမန်တော်မြတ်အား တမန်တော်မြတ်၏ 'မုအ်ဂျိဇဟ်' တန်ခိုးပြာဋိဟာများဖြင့် တမန်တော်ဖြစ်ကြောင်းကို ကောင်းစွာသိပါလျက် မုန်းတီးသည့်အတွက်ကြောင့် သာလျှင် တမန်တော်မြတ်အား သွေဖည်ငြင်းဆန်ကြလေသည်။ ကြည့်-တဖ်စီရ်၊ အဗူစအူဒ်၊အ-၃၊စ-၁၈၈၊

(၁) ကိယာမတ်နေ့တွင် အုပ်စုအားလုံးတို့သည် အလ္လာဟ်အရှင်မြတ်၏ တရားရုံးတော်သို့ အသီးသီး ရောက်ရှိလာကြ ရမည်ဖြစ်သည်။ အုပ်စုတိုင်း၏သက်ဆိုင်ရာ တမန်တော်သည်လည်း သက်သေအဖြစ်ရောက်ရှိလာပြီး မိမိ၏ အုပ်စုသည် အလ္လာဟ်အရှင်မြတ်၏ တရားဒေသနာတော်များကို နာခံသည်၊ မနာခံသည်၊ မိမိနှင့်ကောင်းစွာ ဆက်ဆံသည်၊ မဆက်ဆံသည်များကို ဟုတ်မှန်ရာအတိုင်း သက်သေထွက်ဆိုပေမည်။

ကိယာမတ်နေ့တွင် ကာဖိရ်၊ မုရှ်ရစ်ကတို့သည် စကားတခွန်းမျှ လျှောက်ထားခွင့်လည်း ရရှိကြမည် မဟုတ်၊ ဝန်ချတောင်းပန် အသနားခံခွင့်လည်း ရရှိကြမည်မဟုတ်ပေ။ ယင်းသို့ အခွင့်ရရှိရန် လိုလည်း မလိုပေ။ အဘယ်ကြောင့်ဆိုသော် ၎င်းတို့၏ အပြစ်များမှာ ထင်ရှားလျက်ရှိချေပြီ။ မိမိတို့၏အပြစ်ကို မိမိတို့ကိုယ်တိုင် ဝန်ခံထားပြီးလည်း ဖြစ်ချေပြီ။ ထို့ပြင်တဝ ယင်းဌာနသည် အလုပ်လုပ်ရာ ဌာနမဟုတ်။ ကောင်းကျိုးဆိုးကျိုးကို ခံစံရာဌာနသာလျှင် ဖြစ်ပေသည်။

وَإِذَا رَاَ الَّذِيْنَ ظَلَمُوا الْعَذَابَ فَلَا يُخَفَّفُ عَنْهُمْ وَلَا هُمْ يُنْظَرُوْنَ ﴿٨٥﴾

၈၅။ ထို့ပြင် မတရား ပြုလုပ်ခဲ့ကြကုန်သောသူတို့သည် ပြစ်ဒဏ်ကို မြင်ကြအံ့သောငှာ ၎င်းတို့အပေါ်မှ (ပြစ်ဒဏ်သည်) ပေါ့လျော့သွားမည်လည်း မဟုတ်။ ထိုနည်းတူစွာ ၎င်းတို့သည် (ပြစ်ဒဏ်)ကို ရွှေ့ဆိုင်းခြင်းကိုလည်း ခံကြရမည် မဟုတ်ပေ။

وَ اِذَا رَاَ الَّذِيْنَ اَشْرَكُوْا شُرَكَآءَهُمْ قَالُوْا رَبَّنَا هٰٓؤُلَآءِ شُرَكَآؤُنَا الَّذِيْنَ كُنَّا نَدْعُوْا مِنْ دُوْنِكَ ۚ فَاَلْقَوْا اِلَيْهِمُ الْقَوْلَ اِنَّكُمْ لَكٰذِبُوْنَ ﴿٨٦﴾

၈၆။ ထိုမှတပါး (အခြားအရာများကို အလ္လာဟ်အရှင်မြတ်နှင့်) တွဲဖက်နိုင်းယှဉ် ကိုးကွယ်ခဲ့ကြသောသူတို့သည် မိမိတို့တွဲဖက်နိုင်းယှဉ် ကိုးကွယ်ကြသည်တို့ကို တွေ့မြင်ကြသောအခါ (အလ္လာဟ်အရှင်မြတ်အထံတော်၌) အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၊ ဤသည်တို့ပင် ကျွန်တော်မျိုးတို့သည် အရှင်မြတ်အားစွန့်၍ ဟစ်ခေါ်တမ်းတခဲ့ကြသော ကျွန်တော်မျိုးတို့၏ တွဲဖက်များဖြစ်ကြပါသည်ဟု လျှောက်ထားကြပေမည်။

ထို့နောက် ယင်းတွဲဖက် ယှဉ်ဖက်များသည် ထိုသူတို့ဘက်သို့ စကားကို လွှဲပစ်၍ "စင်စစ်အမှန်အသင်တို့သည် မုသာဝါဒီများပင် ဖြစ်ကြကုန်သည်" ဟု ပြောဆိုကြပေမည်။

وَ اَلْقَوْا اِلَى اللّٰهِ يَوْمَئِذِ ۨالسَّلَمَ وَضَلَّ عَنْهُمْ مَّا كَانُوْا يَفْتَرُوْنَ ﴿٨٧﴾

၈၇။ ၎င်းပြင် ထိုသူတို့သည် ထိုနေ့တွင် အလ္လာဟ်အရှင်မြတ်အထံတော်သို့ အမိန့်တော်ကိုလိုက်နာရန် ကမ်းလှမ်းကြပေမည်။ ထိုမှတပါး ၎င်းတို့ထံမှ ၎င်းတို့ကြံဖန် လီဆယ်လေ့ ရှိခဲ့ကြသည်များသည်လည်း ပျောက်ပျက်၍ သွားအံ့သတည်း။

اَلَّذِيْنَ كَفَرُوْا وَصَدُّوْا عَنْ سَبِيْلِ اللّٰهِ زِدْنٰهُمْ عَذَابًا

၈၈။ အကြင်သူတို့သည်(မိမိတို့ကိုယ်တိုင်) သွေဖည်ငြင်းပယ်ခဲ့ကြကုန်၏။ ၎င်းပြင် (သူတပါးတို့အား) အလ္လာဟ်အရှင်မြတ်၏လမ်းစဉ်မှတားဆီးခဲ့ကြကုန်၏။

فَوْقَ الْعَذَابِ بِمَا كَانُوْا يُفْسِدُوْنَ ﴿٨٨﴾

ငါ အရှင်မြတ်သည် ထိုသူတို့အား ၎င်းတို့သည် ဖျက်ဆီး လေ့ရှိခဲ့ကြသောကြောင့် ပြစ်ဒဏ်တမျိုးပေါ်၌ ပြစ်ဒဏ်တမျိုးကို ထပ်တိုးစေတော်မူအံ့။

وَيَوْمَ نَبْعَثُ فِيْ كُلِّ اُمَّةٍ شَهِيْدًا عَلَيْهِمْ مِّنْ اَنْفُسِهِمْ وَجِئْنَا بِكَ شَهِيْدًا عَلٰى هٰٓؤُلَآءِ ۭ وَنَزَّلْنَا عَلَيْكَ الْكِتٰبَ تِبْيَانًا لِّكُلِّ شَيْءٍ وَّهُدًى وَّرَحْمَةً وَّبُشْرٰى لِلْمُسْلِمِيْنَ ﴿٨٩﴾

**၈၉**။ တဖန် (အို-နဗီတမန်တော် အသင်သည် မိမိ၏အမျိုးသားတို့အား) အကြင်နေ့(၏အကြောင်း) ကို(ပြော၍ပြပါလေ)။ ငါအရှင်မြတ်သည်သာသနာဝင် အုပ်စုတိုင်း၌ ၎င်းတို့နှင့်ဆန့်ကျင်၍ ၎င်းတို့အနက်မှပင် သက်သေတစ်ဦးကျစီထူတော်မူမည်။ ထိုမှတပါး ငါ အရှင်မြတ်သည် အသင့်အား ဤသူတို့နှင့်ဆန့်ကျင်၍ သက်သေအဖြစ် ရောက်စေတော်(ထူတော်)မူမည်။ [၁]

စင်စစ်သော်ကား ငါအရှင်မြတ်သည် (ယင်း သက်သေထွက်ဆိုနိုင်ရေးအတွက်) အသင်၏အပေါ်၌ (ကုရ်အာန်) ကျမ်းတော်မြတ်ကို အကြောင်းအရာ ခပ်သိမ်းတို့၏ ရှင်းလင်းချက်အဖြစ်လည်းကောင်း၊ ["မွတ်စ်လင်မ်"အမိန့်တော်ကိုလိုက်နာသူတို့အဖို့ တရား လမ်းညွှန်အဖြစ်လည်းကောင်း၊ ကရုဏာတရားအဖြစ် လည်းကောင်း၊ ဝမ်းမြောက်ဖွယ်သတင်းအဖြစ်လည်း ကောင်း၊](စကြာဝဠာခပ်သိမ်းတို့အဖို့) တရားလမ်းညွှန် အဖြစ်လည်းကောင်း၊ ကရုဏာတရားအဖြစ်လည်း ကောင်း၊ မွတ်စ်လင်မ် အမိန့်တော်လိုက်နာသူတို့အဖို့ ဝမ်းမြောက်ဖွယ် သတင်းအဖြစ်လည်းကောင်း ချပေး သနားတော်မူခဲ့လေသတည်း။ [၂]

(၁) ကိယာမတ်နေ့တွင် တမန်တော်တိုင်းသည် မိမိတို့အုပ်စုနှင့်ပတ်သက်၍ အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်၌ သက်သေထွက်ဆိုကြမည် ဖြစ်သည်။ တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည်လည်း မိမိ၏ အုပ်စုနှင့်ပတ်သက်၍ သက်သေထွက်ဆိုတော်မူမည် ဖြစ်သည်။

အချို့ 'မုဖတ်စ်စစ်ရ်များ' ၏ ယူဆချက်အရ တမန်တော်များသည် မိမိတို့၏အုပ်စုများနှင့်ပတ်သက်၍ သက်သေထွက်ဆိုကြမည် ဖြစ်သည်။ ထိုသို့ သက်သေထွက်ဆိုကြကုန်သော တမန်တော်အပေါင်းတို့နှင့်ပတ်သက်၍ ၎င်းတို့သည် မိမိတို့၏တာဝန်များကို ကျေပွန်စွာထမ်းဆောင်ခဲ့ကြသည့်အကြောင်းကို တမန်တော်မြတ် ➤➤

إِنَّ اللَّهَ يَأْمُرُ بِالْعَدْلِ وَالْإِحْسَانِ وَإِيتَاءِ ذِي الْقُرْبَىٰ وَيَنْهَىٰ عَنِ الْفَحْشَاءِ وَالْمُنكَرِ وَالْبَغْيِ ۚ يَعِظُكُمْ لَعَلَّكُمْ تَذَكَّرُونَ ﴿٩٠﴾

၉၀။ ကေန်မလွဲအလ္လာဟ်အရှင်မြတ်သည် မျှတရန်လည်းကောင်း၊ ကောင်းမွန်စွာ ကျင့်မူ ဆက်ဆံရန်လည်းကောင်း၊ ဆွေမျိုးနီးစပ်တို့ကို ပေးကမ်းရန်လည်းကောင်း၊ အမိန့်ပေးတော်မူလေသည်။ ထိုမှတပါး ထိုအရှင်မြတ်သည် ထင်ရှားစွာသောစက်ဆုပ်ရွံ့ရှာဖွယ်များမှလည်းကောင်း၊ မကောင်းမှုများမှလည်းကောင်း၊ မတရားမှုများမှလည်းကောင်း၊ မြစ်တားတော်မူလေသည်။ ထိုအရှင်မြတ်သည် အသင်တို့အား အသင်တို့သတိရကြ အံ့သောငှာ သတိပေး နှိုးဆော်တော်မူပေသတည်း။ ၁

➤➤ မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က သက်သေ ထွက်ဆိုတော်မူမည်ဖြစ်သည်ဟူ၏။

ဟဒီးဆ်တော်များတွင် လာရှိသည်မှာ တမန်တော်မြတ်ထံသို့ တမန်တော်မြတ်၏ အုပ်စု၏ အကျင့်အမူများကို နေ့စဉ်တင်ပြရသည်ဖြစ်သည်။ တမန်တော်မြတ်သည် ကောင်းမွန်သောအကျင့်အမူများကို တွေ့မြင်ရသောအခါ အလ္လာဟ်အရှင်မြတ်အား ကျေးဇူးတင်တော်မူသည်။ မကောင်းသောအကျင့်အမူများကို ကြေ့မြင်ရသောအခါတွင်မူ ထိုမကောင်းပြုမှုများအဖို့ ချမ်းသာခွင့်ပန်ကြားတော်မူသည်။

ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၄:၄၁) တွင် အကျယ်ရေးသားခဲ့လေပြီ။ ပြန်လည်ရှုပါကုန်။

Ⓙ ကုရ်အာန်ကျမ်းမြတ်တွင် တရားဓမ္မ လမ်းညွှန်ပြခြင်းနှင့်သက်ဆိုင်သည့် ပညာရပ်များလည်းပါရှိ၏။ သာသနာရေးဆိုင်ရာ အခြေခံမှုများ၊ သဘောတရားများလည်း ပါရှိ၏။ နှစ်ဘဝစလုံး တွင် အောင်မြင်စေနိုင်သည့် အချက်အလက်များလည်း ပါရှိ၏။ ကုရ်အာန်ကျမ်းမြတ်သည် လိုအပ်သည့်အရာ ခပ်သိမ်းကုန်တို့ကို ရှင်းလင်းပြ၏။ ကုရ်အာန်ကျမ်းမြတ်သည် တရားဓမ္မလည်း မည်၏။ ကရုဏာတော်လည်း မည်၏။ အမိန့်တော် နာခံသောမွတ်စ်လင်မ်များအဖို့ ကောင်းချီးသတင်းလည်း မည်၏။ အချုပ်အားဖြင့် ကုရ်အာန်ကျမ်းမြတ်သည် အံ့မဆုံးသည့် ဓမ္မသာရ ဇမ္ဗူပဒေသာပင်ဖြစ်ပေသည်။

တမန်တော်မြတ်သည် ဤမျှအထူးထူးသော ဂုဏ်ထူးဝိသေသတို့ဖြင့် ပြည့်စုံသော ကုရ်အာန်ကျမ်းမြတ်ကို ချီးမြှင့်တော်မူခြင်း ခံရတော်မူလေသည်။ ဤသည်ကိုထောက်ရှုခြင်းအားဖြင့် တမန်တော်မြတ်၏ ဂုဏ်အင်ဒြပ်အလွန့်အလွန် မြင့်မားကြောင်း၊ ဂုဏ်အင်ဒြပ် အလွန့်အလွန် မြင့်မားသည်နှင့်အမျှ တမန်တော်မြတ်၏တာဝန်မှာလည်း အလွန့်အလွန် ကြီးမားကြောင်း ကောင်းစွာသိရှိရပေသည်။

① (အထက်တွင် ကုရ်အာန်ကျမ်းမြတ်သည် (تِبْيَانًا لِّكُلِّ شَيْءٍ) "အရာခပ်သိမ်းကုန်တို့ကို ရှင်းလင်းပြသောကျမ်းဖြစ်သည်" ဟူ၍ မိန့်ဆိုထားတော်မူ၏။ ဤအာယတ်တော်သည် အဆိုပါ ကုရ်အာန်ကျမ်းမြတ်၏ ဂုဏ်ပုဒ်အတွက် စံနမူနာတစ်ခုပင်ဖြစ်သည်။)

သာဝကကြီး အီဗ်နုမတ်စ်အူဒ်က "အလ္လာဟ်အရှင်မြတ်သည် အကောင်းအဆိုးဟူသမျှတို့ကို ဤအာယတ်တော်တွင် စုပေါင်းမိန့်ဆိုထားတော်မူသည်"ဟု ပြောကြားခဲ့လေသည်။ ဆိုလိုသည်ကား ယုံကြည်ချက်၊➤➤

➤➤ ကိုယ်ကျင့်တရား၊ စေတနာ၊ အပြုအမူ၊ ဆက်ဆံမှုအားလုံးတို့သည် ဤအာယတ်တော်တွင် အကျုံးဝင်လျက် ရှိပေသည်။

အချို့ အာလင်မ်ပညာရှင်များက ကုရ်အာန်ကျမ်းမြတ်သည် "အရာခပ်သိမ်းတို့ကို ရှင်းလင်းပြသော ကျမ်း" ဖြစ်ကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ်တွင် အခြားအာယတ်တော် တစ်ပါးပါး မရှိပါကလည်း ဤအာယတ်တော် တပါးတည်းသည်ပင် လုံလောက်တော်မူသည်"ဟု ရေးသားကြပေသည်။ ဤသည့်အကြောင်းများ ကြောင့်ပင် နာမည်ကျော်သမ္မတကြီး အုမရ် အီဗ်နုအဗ်ဒုလ်အဇီဇ်သည် ဤအာယတ်တော်ကို "ဂျုမုအဟ်" သောကြာနေ့ ဒုတိယ ခုတ္တဗဟ်တွင်ထည့်သွင်း ရွတ်ဖတ်စေ၍ မွတ်စ်လင်မ်တမျိုးသားလုံးအဖို့ ကောင်းမွန် မြင့်မြတ်လှသည့် စံနမူနာတစ်ခုကို တည်ထားခဲ့လေသည်။

ဤအာယတ်တော်၏ အနက်အဓိပ္ပာယ်ပြည့်ဝနက်နဲပုံတို့ကို ဖွင့်ဆိုရေးသားပါက ကျမ်းကြီးတစ်စောင်ပင် ဖြစ်သွားပေမည်။ ထို့အတွက် ဤတွင်အကျယ်မရေးသားဘဲ အကျဉ်းသာ ရေးသားဖော်ပြလိုပေသည်။

ဤအာယတ်တော်တွင် ကျင့်ရန်တရားသုံးပါးနှင့် ကြဉ်ရန်တရားသုံးပါးကို မိန့်ဆိုထားတော်မူသည်။ ကျင့်ရန်တရားသုံးပါးအနက် ပထမတစ်ပါးမှာ **"အဒ်လ်-မျှတခြင်း"** ဖြစ်သည်။

(က) "အဒ်လ်-မျှတခြင်း"၏ အလိုသဘောမှာ လူသားတို့သည် ယုံကြည်ချက်၊ အပြုအမူ၊ အကျင့်စာရိတ္တ၊ ရောင်းဝယ်ဖောက်ကားမှု၊ ဆက်ဆံမှု၊ စိတ်နေသဘောထားစသည်တို့တွင် မရှိုပမဋ္ဌိပဒါ အလယ်အလတ် တည့်မတ်မျှတစွာရှိရပေမည်။ အပိုအလို မရှိစေရ။ အလွန် ကြီးမားသောရန်သူနှင့် ဆက်ဆံသည့်အချိန် တွင်လည်း တရားမျှတမှုကို လက်လွတ်မဖြစ်စေရ။ လူ၏အတွင်းအပြင်သည် တမျိုးတစားတည်း ဖြစ်စေရမည်။ မိမိနှစ်ခြိုက်သောအရာကို သူတပါးအဖို့လည်း နှစ်ခြိုက်ရမည်။ မိမိအဖို့ မနှစ်ခြိုက်သော အရာကို သူတပါးတို့အဖို့လည်း မနှစ်ခြိုက်ရပေ။ ဤကား 'မျှတခြင်း'တည်း။

ကျင့်ရန်တရားသုံးပါးအနက် ဒုတိယကျင့်ရန်တရားမှာ **"အိဟ်စာန်"** ဖြစ်သည်။

(ခ) "အိဟ်စာန်" ၏ အလိုသဘောမှာ လူသည် မိမိကိုယ်တိုင်ကောင်း၍ သူတပါးတို့၏ ကောင်းကျိုး ချမ်းသာအဖြာဖြာကိုလည်း ဆောင်ကြဉ်းပေးရပေမည်၊

"အိဟ်စာန်"သည် "အဒ်လ်"၏ အဆင့်အတန်းထက် မြင့်သည်၊ သူတပါးတို့အား ခွင့်လွှတ်ရသည်၊ ကြည်ဖြူရသည်၊ သနားကြင်နာရသည်၊ နှစ်မြို့ရသည်၊ ကျေးဇူးပြုရပေသည်၊ သဘောထား ကြီးရသည်၊ ယဉ်ကျေးသိမ်မွေ့ရသည်၊ ရက်ရောရသည်၊ ဖွယ်ရာချောင်ရသည်၊ နူတ်ထွက်သာရသည်၊ မလုပ်မနေရ ဖြစ်သော တာဝန်ကို ဆောင်ရွက်ပြီးနောက် စေတနာအလျောက် သူတပါးတို့အား ကျေးဇူးပြုရသည်၊ တရားမျှတသည်သာမက ထောက်ထားလေးစားရသည်။

မိမိပြုလုပ်သမျှသော ကောင်းကျိုးချမ်းသာများကို အလ္လာဟ်အရှင်မြတ် ရှုမြင်နေတော်မူသည် ဟူ၍လည်းကောင်း၊ ကောင်းမှုပြုခြင်းအတွက် ကောင်းကျိုးပင်ရရှိမည်ဟူ၍လည်းကောင်း ယုံကြည်ရ ပေမည်။

ဗိုခါရီကျမ်းတွင် လာရှိသည်မှာ "ကောင်းကင်တမန် ဂျစ်ဗ်ရာအီလ်က တမန်တော်မြတ်အား "အိဟ်စာန်" နှင့်စပ်လျဉ်း၍ ကျွန်ုပ်အား ပြောပြတော်မူပါ" ဟုပန်ကြားရာ တမန်တော်မြတ်က "အသင်သည် အလ္လာဟ်အရှင်မြတ်အား အသင် ထိုအရှင်မြတ်အား ဖူးမြင်နေဘိအလား ခဝပ်ကိုးကွယ်ရမည်။ အကယ်၍ အသင်သည် ထိုအရှင်မြတ်အား မဖူးမြင်နိုင်ပါလျှင် ထိုအရှင်မြတ်သည် အသင့်အား မုချမြင်နေတော်မူသည် (ဟူ၍မှတ်ယူကာ ဝတ်ပြုရမည်)"ဟု ဖြေကြားတော်မူခဲ့လေသည်။ ➤➤

➤➤ ကျင့်ရန်တရားသုံးပါးအနက် တတိယကျင့်ရန်တရားမှာ **"အီတာအေ့ဇစ်လ်ကုရ်ဗာ"** ဖြစ်သည်။

(ဂ) "အီတာအေ့ဇစ်လ်ကုရ်ဗာ" ၏ အလိုသဘောမှာ ဆွေမျိုးသားချင်းတို့အား သဂြိုဟ်ထောက်ပံ့ခြင်း ဖြစ်သည်။ တရားမျှတခြင်း၊ ကောင်းကျိုးပြုခြင်းသည် မိမိနှင့်လည်း သက်ဆိုင်ပေသည်။ သားချင်းများနှင့်လည်း သက်ဆိုင်သည်။ သူစိမ်းတရံဆံများနှင့်လည်း သက်ဆိုင်သည်။ မိတ်ဆွေများနှင့်လည်း သက်ဆိုင်ပေသည်။ ရန်သူများနှင့်လည်း သက်ဆိုင်ပေသည်။

တစ်နည်းအားဖြင့် အားလုံးတို့နှင့် သက်ဆိုင်ပေသည်။ သို့ရာတွင် သားချင်းတို့၏ အခွင့်အရေးသည် သားချင်းမဟုတ်သူများထက် အနည်းငယ် ပိုပေသည်။ သဘာဝအလျောက် တော်စပ်နေသော သားချင်းတို့အား လျစ်လျူပြုမထားသင့်ပေ။ သားချင်းတို့အား ထောက်ထားစာနာ လေးစားမှု၊ အကျိုးပြုမှုစသည်တို့သည် အခြားသူများထက် အနည်းငယ်ပိုသင့်ပေသည်။ သားချင်းတို့အား ထောက်ထား စာနာ လေးစားခြင်းသည် ကုသိုလ်အကျိုးတစ်ပါးပင်ဖြစ်သည်။ သားချင်းတို့အား ဆွေမျိုးတော်စပ်မှုနီးလျှင် (ရင်းချာလျှင်) နီးသည့်အလျောက်၊ ဝေးလျှင် ဝေးသည့်အလျောက် အဆင့်အတန်းအလိုက် ထောက်ထား စာနာ လေးစားရပေမည်။

တနည်းအားဖြင့် တရားမျှတခြင်း၊ ကောင်းကျိုးပြုခြင်း တရားနှစ်ပါး၏နောက်တွင် သားချင်းတို့အား သဂြိုဟ်ထောက်ပံ့ရမည့်အကြောင်း၊ မိန့်ဆိုထားတော်မူခြင်းမှာ -တရားမျှတခြင်းသည် အားလုံးအတွက် တမျိုးတစားတည်းဖြစ်ကြောင်း သို့ရာတွင် အချို့အချိန်များတွင် အခြေအနေအရ အချို့တို့သည် အချို့တို့ထက် ကောင်းကျိုးပြုမှု၊ ထောက်ထားလေးစားမှု၊ ဦးစားပေးမှုများကို ပိုမို၍ ခံထိုက်သင့်ကြသည်ကို သတိပေးထားတော်မူခြင်းပင်ဖြစ်သည်။

အခြေအနေအရ အဆင့်အတန်းအလိုက် ထောက်ထားအပ်သည်ကို လျစ်လျူပြုခြင်းသည် အလ္လာဟ် အရှင်မြတ်၏ သဘာဝဓမ္မကို လျစ်လျူပြုရာရောက်သည်။

အထက်တွင်ဖော်ပြပါ ကျင့်ရန် တရားသုံးပါးကို စဉ်းစားဆင်ခြင် မြော်မြင်ပါက လူ့လောက၌ ရှိရှိသမျှသော ကောင်းမှုအစုစုတို့သည် ဤသည့်ကျင့်ရန်တရားသုံးပါးတွင် အကျုံးဝင်လျက်ရှိသည်ကို အမြော်အမြင် ရှိသူတိုင်း ဝန်ခံရပေမည်။ ဤအာယတ်တော်တွင် ကျင့်ရန်တရားသုံးပါးနှင့် ကြဉ်ရန် တရားသုံးပါးကို မိန့်ဆို ထားတော် မူသည်။ ကျင့်ရန်တရားသုံးပါးအကြောင်းကို အထက်တွင် ဖွင့်ဆို ရေးသားခဲ့ချေပြီ။

ဤတွင် ကြဉ်ရန်တရားသုံးပါးကို အနည်းငယ်ဖွင့်ဆိုရေးသားလိုပေသည်။ အလ္လာဟ်အရှင်မြတ်သည် သုံးခုသောအရာကို တားမြစ်ထားတော်မူသည်။

(က) ဖဟ်ရှာ-စက်ဆုပ်ဖွယ်မှု

(ခ) မွန်ကရ်-မကောင်းမှု

(ဂ) ဗဃ်ယ-ကျူးကျော်မှု။

လူသားတို့တွင် သတ္တိသုံးမျိုးရှိသည်။ ယင်းသည့်သတ္တိများကို အလွဲသုံးစားပြုလုပ်ပါက မကောင်းမှု အပေါင်းသည် ဖြစ်ပေါ်လာပေသည်။

(၁) တိရစ္ဆာန်၏သတ္တိ၊ ကာမဂုဏ်စိတ်။

(၂) တွေဝေမိန်းမောခြင်းစိတ်၊ ရှိုင်တွာန်စိတ်၊

(၃) သားရဲတိရစ္ဆာန်စိတ်။

(က) **"ဖတ်ရှာ"** ဟူသည် အရှက်ကင်းမဲ့သော အရာများကိုဆိုလိုသည်။ ထိုအရာများသည် ကာမဂုဏ်စိတ်၊➤➤

وَ اَوْفُوْا بِعَهْدِ اللّٰهِ اِذَا عٰهَدْتُّمْ وَلَا تَنْقُضُوا الْاَيْمَانَ بَعْدَ تَوْكِيْدِهَا وَقَدْ جَعَلْتُمُ اللّٰهَ عَلَيْكُمْ كَفِيْلًا ؕ اِنَّ اللّٰهَ يَعْلَمُ مَا تَفْعَلُوْنَ ﴿٩١﴾

၉၁။ ထို့ပြင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်ထားရှိသော ပဋိညာဉ်ကို အသင်တို့ ပဋိညာဉ်ဖွဲ့ပြီးခဲ့ကြသောအခါ ကျေပွန်အောင်ဆောင်ရွက်ကြလေကုန်။ [၁] ထိုမှတပါး အသင်တို့သည် ကျိန်ဆိုချက်များကို အခိုင်အမာပြုပြီးနောက် မဖောက်ဖျက်ကြကုန်လင့်။ အမှန်စင်စစ်သော်ကား အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား မိမိတို့အပေါ်၌ အာမခံသူပြုလုပ်ခဲ့ကြချေပြီ။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အသင်တို့ပြုလုပ်ခဲ့ကြသမျှတို့ကို (အကြွင်းမဲ့) သိရှိတော်မူပေသည်။

---

➤➤ ကိလေသာစိတ်၊ တိရစ္ဆာန်စိတ်လွှန်ကဲခြင်းကြောင့် ဖြစ်ပေါ်သည်။

(ခ) **"မွန်ကရ်"** ဟူသည် မှန်ကန်သောသဘာဝနှင့် မှန်ကန်သောအသိဉာဏ်တို့က လက်မခံသော အရာများကို ဆိုလိုသည်။ တနည်းအားဖြင့် ရှိုင်တွာန်၏သွေးဆောင်ဖြားယောင်းမှု၏ လွှမ်းမိုးမှုကြောင့် ကောင်းကင်တမန်တို့၏ အသိဉာဏ် (ဝါ) သူတော်ကောင်းတို့၌ ရှိအပ်သောအသိဉာဏ်သည် ပျက်စီးရပေသည်။

(ဂ) **"ဗဃ်ယ"** ဟူသည် မောက်မာပလွှား၍ စည်းကမ်းကျူးလွန်ခြင်း၊ သားရဲတိရစ္ဆာန်များကဲ့သို့ သူတပါးတို့အား ကျူးကျော်စော်ကားခြင်း၊ သူတပါးတို့၏ အသက်၊စည်းစိမ်၊ ဂုဏ်သိန်များကို မတရားဖျက်ဆီးခြင်းများကို ဆိုလိုသည်။ ဤကဲ့သို့သော ကျူးကျော်စော်ကားမှုများသည် သားရဲတိရစ္ဆာန်စိတ်၊ ဒေါသစိတ်များကို အလွဲသုံးစား ပြုလုပ်ခြင်းဖြင့် ဖြစ်ပေါ်လာပေသည်။

အချုပ်အားဖြင့် လူသားတို့သည် ဤသည့်သတ္တိသုံးရပ်ကို မထိန်းသိမ်းနိုင်သမျှ ကာလပတ်လုံး၊ သူတော်ကောင်းစိတ်ကို အားလုံးတို့အပေါ်၌ မလွှမ်းမိုးစေနိုင်သမျှကာလပတ်လုံး၊ မယဉ်ကျေးနိုင်ပေ၊ မသန့်ရှင်းနိုင်ပေ။

အာက်ဆမ်အီဗ်နူဆွိုင်ဖီသည် ဤအာယတ်တော်ကို ကြားသိသောအခါ မိမိ၏အမျိုးသားများအား "ဤတမန်တော်မြတ်သည် အလွန်မြင့်မြတ်သော ကိုယ်ကျင့်တရားများကို သွန်သင်ဆုံးမတော်မူသည်။ ယုတ်ညံ့ စက်ဆုပ်ဖွယ် ဒုစရိုက်အပေါင်းတို့မှ ကြဉ်ရှောင်စေတော်မူသည်။ သို့ဖြစ်ရာ အသင်တို့သည် တမန်တော်မြတ်၏ ဩဝါဒတော်များကို လျင်မြန်စွာ နာယူကြကုန်။ နာယူရာတွင် အသင်တို့သည် ဦးခေါင်းများဖြစ်ကြကုန်၊ အမြီးများ မဖြစ်ကြနှင့်"ဟု ပြောကြားလေသည်။

သာဝကကြီး အုဆ်မာန် အီဗ်နုမဇ်ဥန်က "ဤအာယတ်တော်ကို ကျွန်ုပ်ကြားသိရသောအခါ ကျွန်ုပ်၏ စိတ်တွင် အီမာန်ယုံကြည်မှုသည် စွဲမြဲသွားပေသည်၊ တမန်တော်မြတ်မုဟမ္မဒ်၏ အချစ်သည်လည်း နှလုံးသည်းပွတ် အတွင်းသို့ သက်ဝင်သွားလေသည်"ဟု ပြောဆိုခဲ့လေသည်။

(၁) အထက်ပါအာယတ်တော် (၁၆း၉၀)တွင် ကျင့်ရန်နှင့် ကြဉ်ရန်တရားများကို မိန့်ဆိုထားတော်မူသည်။ ထိုကျင့်ရန်နှင့် ကြဉ်ရန်တရားများအနက် ဤအာယာတ်တော်တွင် ကတိတည်ရန် သစ္စာမဖောက်ရန် အထူးတလည် ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။ ကတိတည်ကြည်မှုသည် အလွန်အရေးကြီးသော ဂုဏ်ရည်ဖြစ်သည်သာမက ➤➤

وَلَا تَكُونُوا كَالَّتِي نَقَضَتْ غَزْلَهَا مِنْ بَعْدِ قُوَّةٍ أَنكَاثًا تَتَّخِذُونَ أَيْمَانَكُمْ دَخَلًا بَيْنَكُمْ أَن تَكُونَ أُمَّةٌ هِيَ أَرْبَىٰ مِنْ أُمَّةٍ ۚ إِنَّمَا يَبْلُوكُمُ اللَّهُ بِهِ ۚ وَلَيُبَيِّنَنَّ لَكُمْ يَوْمَ الْقِيَامَةِ مَا كُنتُمْ فِيهِ تَخْتَلِفُونَ ﴿٩٢﴾

၉၂။ ထိုမှတပါး အသင်တို့သည် အုပ်စုတစ်စုထက် အုပ်စုတစ်စုကပိုမို၍တိုးတက်ကြီးပွားလာရန် မိမိတို့၏ ကျိန်ဆိုချက်များကို မိမိတို့အချင်းချင်းတွင် ပရိယာယ် ဝေဝုစ် ပြုလုပ်ခြင်းအားဖြင့် အသင်တို့သည် မိမိ ချည်မျှင်များကို ကောင်းမွန်ခိုင်ခံ့စွာ ငင်ပြီးနောက် *အပိုင်းပိုင်း ဖျက်ဆီးခဲ့သော မိန်းမကဲ့သို့ မဖြစ်ကြ ကုန်လင့်။* ၁

စင်စစ်မူကား အလ္လာဟ်အရှင်မြတ်သည် ဤ အမိန့်တော်ဖြင့် အသင်တို့အား စမ်းသပ်တော်မူခြင်းမျှ ဖြစ်ပေသည်။ ထိုမှတပါး ထိုအရှင်မြတ်သည် အသင် တို့ သဘောကွဲလွဲလျက် ရှိကြသည်များကို ကိယာမတ် ရှင်ပြန်ထမည့်နေ့တွင် အသင်တို့ရှေ့ဝယ် ထင်ရှားစေ တော်မူပေမည်။

---

➤➤ ထိုအချိန် ထိုအခါတွင် အခြေအနေနှင့် အထူးပင် လိုလားအပ်ပေသည်။ မွတ်စ်လင်မ်တို့၏ တိုးတက်မှု၊ အောင်မြင်မှုတို့အတွက် ကတိတည်ကြည်မှုသည် အထူးတလည်အထောက်အကူဖြစ်မည့်ကိစ္စ၊ အကျိုးပြုမည့် ကိစ္စလည်းဖြစ်သည်။ ထို့အတွက် အလ္လာဟ်အရှင်မြတ်၏ နာမ်တော်ကို တသ၍ ကျိန်ဆိုပြုလုပ်ထားသည့် ပဋိညာဉ်များကို တရားတော်နှင့်မဆန့်ကျင်ပါက မွတ်စ်လင်မ်တို့သည် ပဋိညာဉ်ပါ စည်းကမ်းချက်များကို တစ်သွေ မတိမ်းလိုက်နာ ကျင့်သုံးကြရမည်။ (မင်းမှာသစ္စာ၊ လူမှာကတိ)။

ပဋိညာဉ်ပြုရာတွင် အလ္လာဟ်အရှင်မြတ်၏ နာမ်တော်ကိုတသခြင်းသည် တစ်နည်းအားဖြင့် ထိုအရှင်မြတ်အား သက်သေထူခြင်းပင်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် အလုံးစုံကိုသိတော်မူသော ဉာဏ်တော် အရှင် ဖြစ်တော်မူသည်၊ ပဋိညာဉ်ပါ စည်းကမ်းချက်များကို လူသားတို့သည် အဘယ်မျှလိုက်နာသည်၊ မလိုက်နာသည်၊ ကတိတည်သည်၊ မတည်သည်၊ ကတိပျက်ကွက်သည်။ မပျက်ကွက်သည် စသည်များကို အကြွင်းမဲ့ သိတော်မူသည်၊ ကတိပျက်ပါက သစ္စာဖောက်ပါက ထိုက်တန်သည့် ပြစ်ဒဏ်ကို ခတ်တော်မူမည်သာ ဖြစ်သည်။

သို့ဖြစ်ပေရာ လူသားတို့သည် ကတိတည်ကြရပေမည်။ သစ္စာအလျှင်းမဖောက်ကြရပေ။

(၁) ပဋိညာဉ်ဖွဲ့ပြီးသည့်နောက် သစ္စာဖောက်ခြင်းသည် အကြင်သူရူးမ၏ အပြုအမူနှင့်တူသည်။ သူသည် တစ်နေကုန်တစ်နေခန်း ကြိုးစားအားထုတ်၍ ဗိုင်းငင်သည်၊ ညနေတွင် မိမိကိုယ်တိုင် ကြိုးစား၍ ငင်ထားသော ချည်မျှင်များကို အပိုင်းပိုင်းအစစ ပြုလုပ်ပစ်လေသည်။ မက္ကာမြို့တွင် ယင်းသို့ပြုလုပ်လေ့ရှိသော သူရူးမတစ်ယောက် ရှိခဲ့ဘူးလေသည်။ ဆိုလိုသည်ကား ပဋိညာဉ်များကို ချည်မျှင်များကဲ့သို့ ယူဆ၍ အခါမရွေး ဖျက်ဆီးခြင်းသည် အမြော်အမြင်ကင်းမဲ့ခြင်း၊ နောင်ရေးမတွေးခြင်း ရူးသွပ်ခြင်းပင်ဖြစ်သည်။ ➤➤

**တစ်နည်း။**

ထိုမှတပါးအသင်တို့သည် အကြင်မိန်းမကဲ့သို့ မဖြစ်ကြကုန်လင့်။ ထိုမိန်းမသည် မိမိကိုယ်တိုင် ကြိုးပမ်းအားထုတ်၍ ချည်မျှင်များငင်၏။ ထိုနောက် မိမိကိုယ်တိုင်ပင် ထိုချည်မျှင်များကို အပိုင်းပိုင်းအစစ ပြုလုပ်ဖျက်ဆီးပစ်၏။ အုပ်စုတစ်စုသည် အခြား အုပ်စုတစ်စုထက် ပိုမို၍ အကျိုးခံစားနိုင်ရန်အတွက် အသင်တို့သည် မိမိတို့၏ ကျိန်ဆိုချက်များကို အချင်းချင်းကိစ္စများတွင် ပရိယာယ်အဖြစ်အသုံးပြုကြ လေသည်။

အမှန်မှာ အလ္လာဟ်အရှင်မြတ်သည် ယင်းပဋိညာဉ်ဖွဲ့စည်းခြင်းဖြင့် အသင်တို့အား စမ်းသပ်တော်မူပေသည်။ ထိုမှတပါး ကိယာမတ်နေ့တွင် ထို အရှင်မြတ်သည် အသင်တို့သဘောကွဲလွဲခဲ့သည်များ ကို အသင်တို့ရှေ့မှောက်တွင် ထင်ရှားပြတော်မူမည် ဖြစ်သည်။

➤➤ စကားမတည်လျှင် လူ့လောက၏ ဆက်ဆံမှု၊ ရောင်းဝယ်ဖောက်ကားမှု၊ စီမံအုပ်ချုပ်မှုအားလုံးတို့သည် ပျက်စီးသွားပေမည်။ စကားတည်ကြည်မှုဖြင့်သာလျှင် တရားမျှတမှုသည် တည်ရှိနေနိုင်ပေသည်။ အချို့အုပ်စု များသည် တရားမျှတမှုကို လျစ်လျူပြုကာ မိမိတို့၏ လိုအင်ဆန္ဒကိုသာလျှင် ရှေးရှုကြသည်။ ထိုသို့သော အုပ်စုများထံတွင် ပဋိညာဉ်များသည် ဖောက်ဖျက်ရန်အတွက်သာလျှင်ဖြစ်ပေသည်။မိမိတို့နှင့် ပဋိညာဉ်ဖွဲ့ထားသော အုပ်စုတစ်ခုသည် အားနည်းသွားလျှင် ချုပ်ဆိုထားသည့် ပဋိညာဉ်များဖောက်ဖျက်ကြသည်။ ထို့အတွက်ကြောင့် ကုရ်အာန်ကျမ်းမြတ်တွင် မိမိတို့ချုပ်ဆိုထားသော ပဋိညာဉ်များကို လိမ်လည်လှည့်ဖျားရန်၊ ကတိဖျက်ရန်၊ သစ္စာဖောက်ရန် လက်နက်ကိရိယာအဖြစ် အသုံးမပြုကြကုန်လင့်ဟု မိန့်ဆိုထားတော်မူခြင်း ဖြစ်သည်။

အစ္စလာမ်သာသနာမထွန်းကားမီ အမိုက်ခေတ်တွင် အုပ်စုတစ်စုသည် မိမိထက် အားအင်ကြီးမားသော အုပ်စုတစ်ခုကိုတွေ့လျှင် ထိုအုပ်စုနှင့် မဟာမိတ်စာချုပ် ချုပ်ဆိုလေ၏။ ထို့နောက် ယခင်အုပ်စုထက် ပိုမို အားအင်ကြီးမားသော ဂုဏ်သရေရှိသော အခြားအုပ်စုတစ်စုကိုတွေ့မြင်လျှင် ယခင်အုပ်စုနှင့် ချုပ်ဆိုထားသည့် ပဋိညာဉ်ကိုဖောက်ဖျက်၍ ယင်းအုပ်စုထက် ပိုမိုအင်အားကြီးမားသည့် အုပ်စုသစ် နှင့်မဟာမိတ်စာချုပ် ချုပ်ဆိုပြန် လေသည်။ ထို့နောက် တစ်ဖန်မိမိတို့၏ မဟာမိတ်အားလုံးကို အားအင်ချည့်နဲ့စေ၍ အားလုံးထက် ထူးကဲသာလွန် နိုင်သည့် အခွင့်အလမ်းရရှိသည့်အခါ ထိုချုပ်ဆိုထားသည့် ပဋိညာဉ်များကို ချည်မျှင်ပမာ ဖျက်ဆီးပစ်ကြလေသည်။ စက္ကူပမာ ဆုတ်ဖြဲပစ်ကြလေသည်။

وَلَوْ شَآءَ اللّٰهُ لَجَعَلَكُمْ أُمَّةً وَّاحِدَةً وَّلٰكِنْ يُّضِلُّ مَنْ يَّشَآءُ وَيَهْدِيْ مَنْ يَّشَآءُ ؕ وَلَتُسْـَٔلُنَّ عَمَّا كُنْتُمْ تَعْمَلُوْنَ ﴿٩٣﴾

၉၃။ စင်စစ်တစ်မူကား အကယ်၍သာ အလ္လာဟ် အရှင်မြတ်သည် အလိုရှိတော်မူခဲ့ပါလျှင် အမှန်ပင် အသင်တို့အား သာသနာဝင်အုပ်စုတစ်စုတည်း ပြုလုပ်တော်မူခဲ့ပေမည်။ သို့ရာတွင်ထိုအရှင်မြတ်သည် မိမိ အလိုမရှိတော်မူသောသူအား လမ်းမှား၌ထားရှိတော်မူ၍ မိမိအလိုရှိတော်မူသောသူအား တရားလမ်းမှန်သို့ ပို့တော်မူလေသည်။

ထိုမှတပါး အသင်တို့သည် မိမိတို့ ကျင့်မူခဲ့သမျှသော အမှုများနှင့် စပ်လျဉ်း၍ အမှန် မုချ စစ်ဆေးမေးမြန်းခြင်းကို ခံကြရပေမည်။

وَلَا تَتَّخِذُوْٓا اَيْمَانَكُمْ دَخَلًاۢ بَيْنَكُمْ فَتَزِلَّ قَدَمٌۢ بَعْدَ ثُبُوْتِهَا وَتَذُوْقُوا السُّوْٓءَ بِمَا صَدَدْتُّمْ عَنْ سَبِيْلِ اللّٰهِ ۚ وَلَكُمْ عَذَابٌ عَظِيْمٌ ﴿٩٤﴾

၉၄။ ထို့ပြင် အသင်တို့သည် မိမိတို့၏ ကျိန်ဆိုချက်များကို မိမိတို့အချင်းချင်းတွင် ပရိယာယ် ဝေဝုစ် မပြုလုပ်ကြကုန်လင့်။ သို့ဖြစ်လျှင် (အခြားသူတို့၏) ခြေသည် မြဲမြံခိုင်ခံ့ပြီးနောက် ချွတ်ချော်တိမ်းပါး သွားပေလိမ့်မည်။ ထို့ပြင် အသင်တို့သည် အလ္လာဟ် အရှင်မြတ်၏လမ်းတော်မှ တားဆီးခဲ့ကြသောကြောင့် (ဤလောက၌လည်း) ဘေးဒုက္ခ ခံစားကြရပေမည်။ ထိုမှတပါး(တမလွန်ဘဝ၌လည်း) အသင်တို့၌ ကြီးကျယ်လှစွာသောပြစ်ဒဏ်သည် သက်ရောက်ပေမည်။

وَلَا تَشْتَرُوْا بِعَهْدِ اللّٰهِ ثَمَنًا قَلِيْلًا ؕ اِنَّمَا عِنْدَ اللّٰهِ هُوَ خَيْرٌ لَّكُمْ اِنْ كُنْتُمْ تَعْلَمُوْنَ ﴿٩٥﴾

၉၅။ ၎င်းပြင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်ထားရှိကြသော ပဋိညာဉ်ဖြင့် အနည်းငယ်မျှသော အဖိုးငွေကို လဲလှယ်ဝယ်ယူခြင်း မပြုကြကုန်လင့်။

အကယ်၍ အသင်တို့သည် သိကြပါလျှင် ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ် အထံတော်၌ ရှိသော (အကျိုး ဆုလာဒ်)သည် အသင်တို့အဖို့ အကောင်းဆုံးပင် ဖြစ်ချေသတည်း။

مَا عِنْدَكُمْ يَنْفَدُ وَمَا عِنْدَ
اللّٰهِ بَاقٍ ۗ وَلَنَجْزِيَنَّ
الَّذِيْنَ صَبَرُوْٓا اَجْرَهُمْ
بِاَحْسَنِ مَا كَانُوْا
يَعْمَلُوْنَ ﴿٩٦﴾

**၉၆။** အသင်တို့ထံ၌ရှိသော အရာများသည် ကုန်ခန်းသွားမည်သာတည်း။ သို့ရာတွင် အလ္လာဟ် အရှင်မြတ် အထံတော်၌ရှိသော အရာတို့မှာမူကား ရှိရစ်မည့်အရာများပင် ဖြစ်ကုန်သတည်း။ ထို့ပြင် ဧကန်အမှန် ငါအရှင်မြတ်သည် ကြံ့ခိုင်စွာ ရပ်တည် ခဲ့ကြကုန်သောသူတို့အား၊ ၎င်းတို့၏အကျိုးကို ၎င်းတို့ ကျင့်မူခဲ့ကြကုန်သော ကောင်းမြတ်သောအကျင့်သီလ နှင့် လျော်ညီစွာ ပေးဆပ်တော်မူပေမည်။ [1]

(**တစ်နည်း:** -ထို့ပြင် မုချဧကန် ငါအရှင်မြတ်သည် ကြံ့ခိုင်စွာရပ်တည်ခဲ့ကြသောသူတို့အား ၎င်းတို့ပြုကျင့် ဆည်းပူးခဲ့ကြသည်များထက် ပိုမိုကောင်းမွန်သော ကုသိုလ်အကျိုးကို ချီးမြှင့်တော်မူမည်ဖြစ်သည်)ကြည့်- ဂျလာလိုင်န်။ စ-၂၂၃။ ဂျမိအုလ်ဗယာန်၊ စ-၂၂၃။

مَنْ عَمِلَ صَالِحًا مِّنْ ذَكَرٍ
اَوْ اُنْثٰى وَهُوَ مُؤْمِنٌ
فَلَنُحْيِيَنَّهٗ حَيٰوةً طَيِّبَةً ۚ
وَلَنَجْزِيَنَّهُمْ اَجْرَهُمْ

**၉၇။** မည်သူမဆို ယောကျ်ားဖြစ်စေ၊ မိန်းမဖြစ်စေ (မုအ်မင်န်အဖြစ်နှင့်)ကောင်းမြတ်သောအကျင့်သီလကို ကျင့်မူဆောက်တည်ခဲ့သော်၊ ၎င်းပြင် ထိုသူသည် *မုအ်မင်န် သက်ဝင်ယုံကြည်သူ(လည်း)ဖြစ်ခဲ့သော်* [2] မလွဲဧကန် ငါအရှင်မြတ်သည် ထိုသူအား သန့်ရှင်း စင်ကြယ်သောအသက်ရှင်ခြင်းမျိုးဖြင့် အသက်ရှင်စေ တော်မူပေမည်။

---

(၁) အကြင်သူသည် အလ္လာဟ်အရှင်မြတ်နှင့် ပြုလုပ်ထားသည့် ပဋိညာဉ်တော်များကိုလည်းကောင်း၊ မိမိတို့အချင်းချင်းပြုလုပ်ထားသည့် ပဋိညာဉ်များကို လည်းကောင်း၊ တစ်သွေမတိမ်းလိုက်နာ ကျင့်မူကြကုန်အံ့။ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ တွေ့ကြုံရသည့် ဒုက္ခကြီးငယ်များကိုလည်း ကြံ့ခိုင်စွာ ရင်ဆိုင်ကြကုန်အံ့။ ထိုသို့သော သူတော်စင်တို့အား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ အကျင့်အမူများထက် ပိုမိုမြင့်မြတ်သော ကုသိုလ်အကျိုးများကိုမူ ချီးမြှင့်တော်မူမည်ဖြစ်သည်။

(၂) အထက်တွင် သည်းခံသောသူများနှင့် ကတိတည်သောသူများ၏ ကုသိုလ်အကျိုးများကို မိန့်ဆိုထားတော်မူသည်။ ယခုဤအာယတ်တော်တွင် ကောင်းမှုကိစ္စအဝဝနှင့် စပ်လျဉ်း၍ မူတစ်ခုကို မိန့်ဆိုထားတော်မူသည်။ အချုပ်မှာ ယောကျ်ားဖြစ်စေ၊ မိန်းမဖြစ်စေ၊ "အီမာန်" ယုံကြည်၍ ကောင်းမှုပြုကျင့်ပါမူ ➤➤

بِأَحْسَنِ مَا كَانُوا يَعْمَلُونَ ﴿٩٧﴾

ထိုမှတပါး မုချစင်စစ် ငါအရှင်မြတ်သည် ထိုသူတို့အား ၎င်းတို့၏အကျိုးကို ၎င်းတို့ကျင့်မှု ဆောက်တည်လျက်ရှိခဲ့ကြကုန်သော ကောင်းမြတ်သော အကျင့်သီလနှင့် လျော်ညီစွာ ပေးဆပ်တော်မူပေမည်။

**တစ်နည်း:** – ၎င်းတို့ကျင့်မှုခဲ့ကြသော အကျင့်သီလများထက် ပိုမိုကောင်းမြတ်သော ကုသိုလ်အကျိုးကို ချီးမြှင့်တော်မူမည်ဖြစ်သည်။

فَإِذَا قَرَأْتَ الْقُرْآنَ فَاسْتَعِذْ بِاللَّهِ مِنَ الشَّيْطَانِ الرَّجِيمِ ﴿٩٨﴾

**၉၈။** သို့ဖြစ်ပေရာ (အို–နဗီတမန်တော်) အသင်သည်ကုရ်အာန်ကျမ်းတော်မြတ်ကို ရွတ်ဖတ်သရဇ္ဈာယ်သောအခါ နှင်ထုတ်ခြင်းခံရသော ရှိုင်တွာန်မိစ္ဆာကောင်(၏နှောင့်ယှက်မှု)မှ (လွတ်ကင်းနိုင်ရန်) အလ္လာဟ်အရှင်မြတ်၏ အကာအကွယ်ကို ယူပါလေ။ ၁

➤➤ အလ္လာဟ်အရှင်မြတ်သည် မိန်းမယောကျ်ား မခွဲခြားဘဲ ကောင်းမွန်သန့်ရှင်း အပြစ်ကင်းသော သုခချမ်းသာအဖြာဖြာနှင့် ပြည့်စုံသောဘဝကို ချီးမြှင့်တော်မူမည် ဖြစ်သည်။

ဥပမာ – ကာယသုခ၊ စိတ္တသုခလည်းရှိရမည်။ သမ္မာအာဇီဝ တရားသဖြင့်ရှာဖွေ ဆည်းပူးသည့် စားနပ်ရိက္ခာလည်းရရှိမည်။ တင်းတိမ်ရောင့်ရဲမှုလည်း ရရှိမည်။ နာမည်ကောင်းလည်းရမည်။ ဂုဏ်သတင်းလည်း ပျံ့နှံ့မည်။ သာသနာ့တာဝန်များကို လိုက်နာကျင့်သုံးရာတွင် ပျော်ရွှင်မှု၊ ကျေနပ်မှု၊ ပီတိဖြစ်မှုကိုလည်း ရရှိမည်။ နောင်တမလွန်အရေးတွေး၍ ဝမ်းအသာကြီးသာမည်လည်း ဖြစ်သည်။ ထိုသို့သော မုအ်မင်န်အမျိုးသား အမျိုးသမီးအပေါင်းတို့သည် နှစ်ဘဝစလုံးတွင် ကောင်းစားကြပေမည်။

ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် အမျိုးသမီး၊ အမျိုးသားများတို့သည် ခွဲခြားမှုတစ်စုံတစ်ရာမရှိဘဲ မိမိတို့၏ကျင့်မှုသော ကောင်းမှုတို့၏ ကုသိုလ် အကျိုးများကို ရရှိကြမည်ဖြစ်ကြောင်း ကောင်းစွာသိရှိရပေသည်။

(၁) ဤအာယတ်တော်၏ အလိုသဘောမှာ ( أعوذ بالله من الشيطن الرجيم ) "ကျွန်တော်မျိုးသည် နှင်ထုတ်ခြင်းခံရသော ရှိုင်တွာန်၏ နှောင့်ယှက်ခြင်းမှ ကင်းရန်အလ္လာဟ်အရှင်မြတ် အထံတော်၌ ခိုလှုံပါ၏။"ဟု ဆိုရုံမျှဖြင့် တာဝန်မကုန်ပေ။ အမှန်မှာ ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်သည့်အချိန်တွင် ရှိုင်တွာန်၏ ဖဝေဖဝါဖြစ်စေမှု၊ သို့လောသို့လော ဖြစ်စေမှုများနှင့် ကင်းကွာရန်၊ မမှန်ကန်သော ဒွိဟသံသယများတွင် မသက်ရောက်ရန်၊ ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို အလ္လာဟ်အရှင်မြတ်၏ အလိုဆန္ဒတော်နှင့်အညီ အမှန်အတိုင်း တွေးခေါ်မြော်မြင် သဘောပေါက်နားလည်ရန်၊ မိမိပြုလုပ်ထားသည့် အတွေးအခေါ်များ (သို့မဟုတ်) သူတစ်ပါး၏ အတွေးအခေါ်များ အတည်ဖြစ်စေလိုသည့် သဘောဖြင့် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို အလွဲသုံးစား မပြုမိရန်အတွက် စိတ်စေတနာ တကယ်ထားရှိရပေမည်။ ထို့အတိုင်းလည်း ကြိုးစားရပေမည်။ ➤➤

إِنَّهُۥ لَيْسَ لَهُۥ سُلْطَٰنٌ عَلَى ٱلَّذِينَ ءَامَنُوا۟ وَعَلَىٰ رَبِّهِمْ يَتَوَكَّلُونَ ﴿٩٩﴾

၉၉။ ဧကန်စင်စစ် ယင်းရှိုင်တွာန် မိစ္ဆာကောင်၌ အကြင်သူတို့အပေါ်ဝယ် လုံးဝ *သြဇာအာဏာ မရှိချေ။* [၁] ထိုသူတို့သည် ဧကန်စင်စစ် အီမာန်သက်ဝင်ယုံကြည်၍ မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ယုံကြည်အားထားကြကုန်သောသူတို့ အပေါ်၌ ရှိုင်တွာန်မိစ္ဆာကောင်သည် လုံးဝ သြဇာအာဏာ မရှိချေ။

إِنَّمَا سُلْطَٰنُهُۥ عَلَى ٱلَّذِينَ يَتَوَلَّوْنَهُۥ وَٱلَّذِينَ هُم بِهِۦ مُشْرِكُونَ ﴿١٠٠﴾

၁၀၀။ ယင်းရှိုင်တွာန်မိစ္ဆာကောင်၏ သြဇာအာဏာသည်ကား ၎င်းအားအဆွေခင်ပွန်းဖွဲ့သော သူတို့နှင့် ယင်းရှိုင်တွာန်မိစ္ဆာကောင်ကြောင့် (အခြားအရာများကို အလ္လာဟ်အရှင်မြတ်နှင့်) တွဲဖက်ကိုးကွယ်သောသူတို့ အပေါ်၌သာ ရှိပေသတည်း။

---

➤➤ ထို့ပြင်တစ်ဝ သိထားအပ်သည်မှာ ရှိုင်တွာန်၏ အကြီးဆုံးသော ကြိုးပမ်းမှုမှာ လူသားတို့အား ကုရ်အာန်ကျမ်းမြတ်၏ တရားဓမ္မနှင့် ကင်းကွာစေခြင်းပင် ဖြစ်သည်။ ထို့အတွက်ကြောင့်ပင် လူသားတစ်ဦးသည် ကုရ်အာန်ကျမ်းမြတ်ကို လေ့လာရန်ကြံရွယ်သည့်အခါ ရှိုင်တွာန်သည် ထိုလူသားအား အစွမ်းရှိသမျှ ဖျက်ဆီးရန် ကြိုးစားလေသည်။ ထို့အတွက်ကြောင့် ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်လေ့လာသည့် အချိန်တွင် သတိကြီးစွာဖြင့် ရှိုင်တွာန်၏ နှောင့်ယှက်ခြင်းအပေါင်းမှ ကင်းလွတ်ရန် အလ္လာဟ်အရှင်မြတ်ထံတော်၌ ခိုလှုံရပေမည်။ အဘယ်ကြောင့်ဆိုသော် အကြင်သူ တစ်ဦးသည် ကုရ်အာန်ကျမ်းမြတ်မှ တရားမရလျှင် ထိုသူအဖို့ တရားရရန် အကြောင်းမရှိတော့ပေ။ ထို့အတူ အကြင်သူတစ်ဦးသည် ကုရ်အာန်ကျမ်းမြတ်၏ အနက်အဓိပ္ပာယ်ကို အမှားမှား အယွင်းယွင်း ကောက်ယူထားသည်ရှိသော် ထိုသူအား မည်သည့်အရာကမျှ လမ်းမှန်ပြနိုင်မည် မဟုတ်ပေ။

ဤနေရာ၌ ဤအာယတ်တော်ကို မိန့်ဆိုထားတော်မူခြင်းမှာ ရှေ့တွင် ကုရ်အာန်ကျမ်းမြတ်နှင့်စပ်လျဉ်း၍ ကာဖိရ်၊ မုရှ်ရစ်က်တို့၏ ဝေဖန်ချက်များကို ဖြေဆိုထားတော်မူသည်။ ထို့အတွက်ကြောင့် ဤအာယတ်တော်ကို ပဏာမအဖြစ် မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။ အဟ္ဆန်အအ်လာ။

(၁) အကြင်သူများသည် အလ္လာဟ်အရှင်မြတ်အား အီမာန်ယုံကြည်ကြ၏။ ထို့ပြင်တစ်ဝ ထိုအရှင်မြတ်အပေါ်၌ ယုံပုံလွှဲအပ်ထားကြ၏။ ထိုသို့သောသူများအား ရှိုင်တွာန်သည် မလွှမ်းမိုးနိုင်ပေ။ အကယ်တန္တု ထိုသို့သော သူများသည် လူ့သဘာဝအလျောက် ခေတ္တခဏ ရှိုင်တွာန်၏ဖြားယောင်းမှုကို ခံလိုက်ကြရပါကလည်း ရှိုင်တွာန်သည် ကြာရှည်စွာ လှည့်စားမထားနိုင်ပေ။ ထိုသို့သော ပုဂ္ဂိုလ်များသည် ချက်ချင်းပင် ပြန်လည် သတိရရှိလာကြပေသည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၇း၂၀၁၊ ၂၀၂)တွင် မိန့်ဆိုထားတော်မူသည်။

အကြင်သူများသည် ၎င်းတို့ကိုယ်တိုင်ကပင် ရှိုင်တွာန်အား မိတ်ဖွဲ့ထားကြ၏။ တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အားသာ မှီခိုအားထားရမည့်အစား ရှိုင်တွာန်ကိုလည်း မှီခိုအားထားကြ၏။ ➤➤

وَإِذَا بَدَّلْنَآ ءَايَةً مَّكَانَ ءَايَةٍ ۙ وَٱللَّهُ أَعْلَمُ بِمَا يُنَزِّلُ قَالُوٓا۟ إِنَّمَآ أَنتَ مُفْتَرٍۭ ۚ بَلْ أَكْثَرُهُمْ لَا يَعْلَمُونَ ﴿١٠١﴾

၁၀၁။ ၎င်းပြင် ငါအရှင်မြတ်သည် *အာယတ်တော်တစ်ပုဒ်ကို အာယတ်တော်တစ်ပုဒ်၏ နေရာတွင် ပြောင်းလဲတော်မူသောအခါ* [၁] အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် မိမိချပေးတော်မူသော အမိန့်ပညတ်တော်ကို အသိတော်မူဆုံးပင်ဖြစ်တော်မူ၏။ ယင်း(ကာဖိရ်သွေဖည်ငြင်းပယ်သော)သူတို့က အသင်သည် ကြံဖန်လီဆယ်သူမျှသာဖြစ်သည်ဟု ပြောဆိုကြကုန်၏။ ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာကား ၎င်းတို့အနက် အများဆုံးသောသူတို့သည် မသိနားမလည်ကြပေ။

➤➤ တစ်နည်းအားဖြင့် ရှိုင်တွာန်ကို အလ္လာဟ်အရှင်မြတ်နှင့်တန်းတူ၊ ဂုဏ်ရည်တူပြုလုပ်ကိုးကွယ်ကြ၏။ သို့တည်းမဟုတ် ထိုရှိုင်တွာန်၏ ဖြားယောင်းမှုကြောင့် အခြားသောအရာများကို အလ္လာဟ်အရှင်မြတ်နှင့် ဂုဏ်ရည်တူထား၍ ကိုးကွယ်ကြ၏။ ထိုသို့သောသူများပေါ်၌မူ ရှိုင်တွာန်၏ဩဇာအာဏာသည် အပြည့်အဝတည်ရှိပေသည်။

ယင်းသို့သောသူများအား ရှိုင်တွာန်သည် အလိုရှိသလို လှည့်ဖြားမှောက်မှားစေနိုင်သည်။

(၁) အထက်တွင် ကုရ်အာန်ကျမ်းမြတ် ရွတ်ဖတ်သရဇ္ဈာယ်သည့်အခါ ရှိုင်တွာန်၏ နှောင့်ယှက်မှုမှ ကင်းလွတ်ရန် အလ္လာဟ်အရှင်မြတ်ထံတော်၌ ခိုလှုံရမည့်အကြောင်း မိန့်ဆိုထားတော်မူ၏။ ယခုဤအာယတ်တော်တွင် ကုရ်အာန်ကျမ်းမြတ်နှင့် စပ်လျဉ်း၍ ရှိုင်တွာန်၏ နှောင့်ယှက်မှုအချို့ကို မိန့်ဆိုထားတော်မူသည်။

ကုရ်အာန်ကျမ်းမြတ်တစ်စောင်လုံးသည် တကြိမ်တည်း ကျရောက်လာခဲ့သည်မဟုတ်ပေ။ အခြေအနေအရ လိုအပ်သမျှ ဤအာယတ်တော်များ ကျရောက်လာခဲ့ခြင်း ဖြစ်သည်။ ထိုသည့်အာယတ်တော်များတွင် အချို့အာယတ်တော်များသည် အကြောင်းထူးတစ်ရပ်ရပ်ကြောင့် သတ်မှတ်ထားတော်မူသည့် အချိန်ပိုင်းအတွက် ယာယီထုတ်ပြန်ချမှတ်ထားတော်မူသော အမိန့်တော်များလည်း ပါဝင်ပေသည်။ အခြေအနေ ပြောင်းလဲသွားသည့်အခါ ထိုသည့်အမိန့်တော်များအစား အခြားအမိန့်တော်များကို ထုတ်ပြန်ချမှတ်တော်မူလေသည်။

ဥပမာ- အစ္စလာမ် သာသနာထွန်းကားခါစ အချိန်တွင် မွတ်စ်လင်မ်တို့အား စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ခြင်းကို တားမြစ်ထားတော်မူခဲ့သည်။ ထို့နောက် အတန်ကြာသောအခါတွင် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန် ခွင့်ပြုတော်မူခဲ့လေသည်။ ထို့အတူ အစပထမတွင် ကုရ်အာန်ကျမ်းမြတ်ကို ညဉ့်တစ်ချိန်တွင် ရွတ်ဖတ်သရဇ္ဈာယ်ရန် အမိန့်တော် ကျရောက်လာခဲ့ပေသည်။ ကြည့်-ကုရ်အာန်(၇၃း၂-၃)။ ထို့နောက် အတန်ကြာသည့်အခါ ကုရ်အာန်ကျမ်းမြတ်ကို တတ်စွမ်းနိုင်သမျှ ရွတ်ဖတ်သရဇ္ဈာယ်ရန် အမိန့်တော်ကျရောက်လာခဲ့ပေသည်။

ကြည့်- ကုရ်အာန် ၇၃း၂၀)

ဤသို့ အခြေအနေအရ ပြောင်းလဲထုတ်ပြန်ထားတော်မူသည့် အာယတ်တော်များကို ကြည့်ပြီး ကာဖိရ်များက "ဤသည်အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များမဖြစ်နိုင်၊ ဤအတိုင်းဆိုလျှင် အလ္လာဟ်အရှင်မြတ်သည် (မပြောကောင်းမဆိုအပ်) သတိမရှိသည့်အတွက် ပထမအမိန့်တော်ကို ထုတ်ပြန်တော်မူပြီး၊ ➤➤

قُلْ نَزَّلَهُ رُوحُ الْقُدُسِ مِن رَّبِّكَ بِالْحَقِّ لِيُثَبِّتَ الَّذِينَ آمَنُوا وَهُدًى وَبُشْرَىٰ لِلْمُسْلِمِينَ ﴿١٠٢﴾

၁၀၂။ (အို–နဗီတမန်တော်)အသင်သည်(၎င်းတို့အား ဤသို့)ပြောဆို ဖြေကြားပါလေ။ ထိုအာယတ်တော်ကို ရူဟုလ်ကုဒ္ဒုစ် (ကောင်းကင်တမန်ဂျစ်ဗ်ရီလ်) သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်မှ မုအ်မင်န်သက်ဝင် ယုံကြည်သူတို့အားတည်တံ့မြဲမြံစေခြင်းငှာလည်းကောင်း၊(မွတ်စ်လင်မ်) အမိန့်တော်ကို လိုက်နာသူတို့အဖို့ တရားလမ်းညွှန်အဖြစ် လည်းကောင်း၊ သတင်းကောင်းအဖြစ်လည်းကောင်း၊(တိကျ)မှန်ကန်စွာချပေးခဲ့လေသတည်း။ ၁

➤➤ သတိရလာသည့်အခါ ဒုတိယအမိန့်တော်ကို ထုတ်ပြန်တော်မူရာ ရောက်သည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် ကုရ်အာန်သည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်မဟုတ်၊ (တမန်တော်) မုဟမ္မဒ် မိမိကိုယ်တိုင်လုပ်ကြံဖန်တီးထားသော ကျမ်းသာဖြစ်သည်” စသည်ဖြင့် စုဒ်စောဒနာ တက်ခဲ့ကြလေသည်။ ဤသို့သောဒွိဟသံသယမှုများကို ရိုင်းတွာန်သည် အချို့မွတ်စ်လင်မ်များ၏ စိတ်တွင်လည်း သက်ရောက်စေခဲ့လေသည်။ ထိုသို့သော စုဒ်စောဒနာများ၊ ဒွိဟသံသယများနှင့် စပ်လျဉ်း၍ ဤအာယတ်တော်တွင် ဖြေကြားထားတော်မူသည်။

ထိုသို့သောစောဒနာတက်ခြင်းသည် မိုက်မဲမှုကြောင့်သာဖြစ်သည်။ ထိုသို့စောဒနာတက်သူများသည် “နာစ်ခ်”၏ သဘောကိုနားလည်ပါက ဤသို့သောစကားကို အလျှင်းပြောဆိုကြမည် မဟုတ်ပေ။ “နာစ်ခ်”၏သဘောမှာ သတ်မှတ်ထားသည့် အချိန်ပိုင်းတစ်ခုအတွက် ထုတ်ပြန်ထားသည့် အမိန့်တစ်ရပ်ကို ထိုသည့်အချိန်ပိုင်း ပြီးဆုံးသွားသည့်အခါ ဒုတိယအမိန့် ထုတ်ပြန်ခြင်းပင်ဖြစ်သည်။

① အလ္လာဟ်အရှင်မြတ်က– ကုရ်အာန်ကျမ်းမြတ်နှင့် စပ်လျဉ်း၍ စုဒ်စောဒနာ ဝင်သူတို့ကို တမန်တော်မြတ်အား ဖြေကြားစေတော်မူသည်မှာ– ဤကုရ်အာန်သည် ကျွန်ုပ် ပြုလုပ်ဖန်တီးထားသည့် ကုရ်အာန်မဟုတ်၊ လူသားတစ်ဦးတစ်ယောက်က ပြုလုပ်ဖန်တီးထားသည့် ကုရ်အာန်လည်းမဟုတ်၊ ကျွန်ုပ်၏အရှင်သခင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်က စင်ကြယ်သန့်ရှင်း အပြစ်ကင်းလှသည့် “ရူဟုလ်ကုဒုစ်” ကောင်းကင်တမန် ဂျစ်ဗ်ရီလ်မှ တစ်ဆင့် အတိုင်းမသိ ကြီးမားလှသည့် ဉာဏ်အမြော်အမြင်ဖြင့် ထုတ်ပြန်ချမှတ်ထားတော်မူသော ကုရ်အာန်သာ ဖြစ်သည်။

“အသင့်အား မွေးမြူတော်မူသောအရှင်” ဟုသုံးနှုန်းတော်မူခြင်းမှာ ဤကုရ်အာန် ထုတ်ပြန်ချမှတ်တော်မူသော အရှင်မှာ အခြားမဟုတ်၊ ကျွန်ုပ်(တမန်တော်မြတ်)အား အံ့မဆုံးသည့်နည်းဖြင့် ပြုစုပျိုးထောင်၍ အမြင့်မြတ်ဆုံးသော ကိုယ်ကျင့်တရားများကို ဆင်ယင်ပေးတော်မူသော အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူသည်ကို ထင်ရှားသိရန်အတွက်ပင်ဖြစ်သည်။ ထိုအတူ “ရူဟုလ်ကုဒုစ်”မှ တစ်ဆင့် ထုတ်ပြန်ချမှတ်တော်မူသည်ဟူ၍ မိန့်ဆိုထားတော်မူခြင်းမှာ ရူဟုလ်ကုဒုစ်ပင့်မယူ ဆောင်လာသည့် ကုရ်အာန်ကျမ်းမြတ်သည် အဘယ်မျှ စင်ကြယ်သန့်ရှင်း အပြစ်ကင်း၍ အဘယ်မျှ နူးညံ့သိမ်မွေ့ပြီး အဘယ်မျှ ပြည့်စုံသည်ကို ထင်ရှားသိရန်အတွက်ပင် ဖြစ်သည်။

وَلَقَدۡ نَعۡلَمُ أَنَّهُمۡ يَقُولُونَ إِنَّمَا يُعَلِّمُهُۥ بَشَرٞۗ لِّسَانُ ٱلَّذِي يُلۡحِدُونَ إِلَيۡهِ أَعۡجَمِيّٞ وَهَٰذَا لِسَانٌ عَرَبِيّٞ مُّبِينٌ ﴿١٠٣﴾

၁၀၃။ ၎င်းပြင် ဧကန်စင်စစ်၎င်းတို့သည် ထို (နဗီ တမာန်တော် မုဟမ္မဒ်)အား လူတစ်ယောက်က သင်ကြားပို့ချ၍ပေးသည်ဟု ပြောဆိုကြသည်ကို ဧကန်မလွဲ ငါအရှင်မြတ်သည် ကောင်းစွာ သိရှိတော်မူပေသည်။ [1] (စင်စစ်) ၎င်းတို့စောင်းမြောင်းရည်ညွှန်း ပြောဆိုကြကုန်သောသူ၏ဘာသာစကားမှာမူ နိုင်ငံခြား ဘာသာစကားပင် ဖြစ်ပေသည်။ သို့ရာတွင် ဤ အာယတ်တော်တွင်မူကား ရှင်းလင်းပြေပြစ်သော အရဗီဘာသာစကားပင် ဖြစ်လေသည်။

إِنَّ ٱلَّذِينَ لَا يُؤۡمِنُونَ بِـَٔايَٰتِ ٱللَّهِ لَا يَهۡدِيهِمُ ٱللَّهُ وَلَهُمۡ عَذَابٌ أَلِيمٌ ﴿١٠٤﴾

၁၀၄။ ဧကန်စင်စစ် အကြင်သူတို့သည် အလ္လာဟ် အရှင်မြတ်၏ အာယတ်တော်များကို မယုံကြည်ကြပေ။ ၎င်းတို့အားအလ္လာဟ်အရှင်မြတ်သည်တရားလမ်းမှန်ကို ပြတော်မူမည်မဟုတ်ပေ။ ထိုမှတပါး ၎င်းတို့၌ ပြင်းပြ နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်သည်(လည်း) ရှိချေအံ့ သတည်း။

---

(၁) ကာဖိရ်၊ မုရှ်ရစ်ကဲများသည် မိမိတို့၏ဉာဏ်ထိုင်းမှု၊ ညံ့ဖျင်းမှုတို့ကြောင့် ကုရ်အာန်ကျမ်းမြတ်၏ နက်နဲသိမ်မွေ့သော ပညာရပ်ကို နားမလည်နိုင်ကြသော်လည်း ကုရ်အာန်ကျမ်းမြတ်၏ "ဖဆွာဟာတ်" "ဗလာဃတ်" စာပေ အဆင့်အတန်း မြင့်မားမှု၊ စာပေကြွယ်ဝမှု၊ စာပေဂုဏ်မြောက်မှုများကိုမူ ကောင်းစွာ သိနိုင်ကြပေသည်။ ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်မှန်ကန်ကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ် ကဲ့သို့ အလားတူ စာတစ်ပိုဒ်မျှပင် ပြုလုပ်တင်ပြရန် ကမ္ဘာ့အဝှမ်းသို့ ကြေညာထားတော်မူသည်။ ယနေ့ထက်တိုင် တစ်ဦးတစ်ယောက်မျှ မပြုစွမ်းနိုင်ခဲ့ပေ။ မည်သည့်အခါ၌မျှလည်း အလျှင်း ပြုစွမ်းနိုင်မည်မဟုတ်ပေ။ သို့ဖြစ်ပေရာ မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရိစ်ကဲများ ရည်ညွှန်းပြောဆိုသည့် အရဗ်အမျိုးသား မဟုတ်သော၊ ကျေးကျွန်ဖြစ်သော လူသာမန်တစ်ဦးသည် အသို့လျှင် ပြုစွမ်းနိုင်အံ့နည်း။

အကယ်၍ "ဤကုရ်အာန်ကျမ်းမြတ်မှာ- တမန်တော်မြတ် မုဟမ္မဒ် မိမိကိုယ်တိုင် ပြုလုပ်ဖန်တီး ထားသော ကုရ်အာန်ဖြစ်သည်ဟု ပြောဆိုကလည်း ဤသို့ကားအလျှင်း မဖြစ်နိုင်ပေ။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်သည် "အွမ်မီ" ဖြစ်တော်မူသည်။ ထို့ပြင်တစ်ဝ ကုရ်အာန်ကျမ်းမြတ်မှတပါး တမန်တော်မြတ် ဟောကြားထားတော်မူသည့် ဟဒီဝါဒတော် အမြောက်အမြားရှိပေသည်။ ထိုဟဒီဝါဒတော်များသည် ကုရ်အာန် ကျမ်းလာ အာယတ်တော်နှင့် အလျှင်းမတူပေ။ နှိုင်းယှဉ်၍ပင်မဖြစ်ပေ။

إِنَّمَا يَفْتَرِي الْكَذِبَ الَّذِينَ لَا يُؤْمِنُونَ بِآيَاتِ اللَّهِ ۖ وَأُولَٰئِكَ هُمُ الْكَاذِبُونَ ﴿١٠٥﴾

၁၀၅။ အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များကို မယုံကြည်သောသူတို့သည်သာလျှင် မုသားကို ကြံဖန်လီဆယ်၍ ပြောဆိုကြကုန်၏။ ထိုမှတပါး ၎င်းတို့သည်သာလျှင် မုသာဝါဒီများ ဖြစ်ကြကုန်သတည်း။

مَن كَفَرَ بِاللَّهِ مِن بَعْدِ إِيمَانِهِ إِلَّا مَنْ أُكْرِهَ وَقَلْبُهُ مُطْمَئِنٌّ بِالْإِيمَانِ وَلَٰكِن مَّن شَرَحَ بِالْكُفْرِ صَدْرًا فَعَلَيْهِمْ غَضَبٌ مِّنَ اللَّهِ وَلَهُمْ عَذَابٌ عَظِيمٌ ﴿١٠٦﴾

၁၀၆။ မည်သူမဆို မိမိ အီမာန်သက်ဝင်ယုံကြည်ပြီးနောက် အလ္လာဟ်အရှင်မြတ်အား သွေဖည်ငြင်းပယ်သွားခဲ့ပါလျှင် (အကယ်၍) အကြင်သူသည် အနိုင်အထက်ပြုမှုခြင်းခံရ၍ ၎င်း၏စိတ်နှလုံးမှာ အီမာန်သက်ဝင် ယုံကြည်မှုနှင့်ပင် နှစ်သိမ့်ကျေနပ်လျက်ရှိခဲ့သော် (၎င်း၌အပြစ်မရှိချေ)။ သို့ရာတွင် အကြင်သူ၏ စိတ်နှလုံးသည် ကုဖ်ရ် သွေဖည်ငြင်းပယ်မှု၌ပင် မွေ့လျော်ခဲ့ပါလျှင် (အကြင်သူသည် စိတ်နှလုံး ကြည်ဖြူစွာနှင့် ကုဖ်ရ် သွေဖည်ငြင်းပယ်မှုကို လက်ခံခဲ့ပါလျှင်) ထိုကဲ့သို့သော သူတို့အပေါ်၌မူ အလ္လာဟ်အရှင်မြတ်အထံတော်မှ အမျက်တော်သည် ကျရောက်ပေမည်။ ထိုမှတပါး ၎င်းတို့၌ကြီးလေးသော ပြစ်ဒဏ်သည်လည်း ရှိချိမ့်သည်တည်း။ [၁]

---

(၁) မြောက်မြားစွာသော အထောက်အထား သက်သေလက္ခဏာတော်များကို ကြားသိရပါလျက် အီမာန်မယုံကြည်သူ တစ်ဦးသည် ကြီးမားသော ပြစ်မှုကျူးလွန်သူပင် ဖြစ်သည်။ သို့ရာတွင် ထိုသူထက်ပင် ပိုမိုဆိုးရွားသူကား – အလ္လာဟ်အရှင်မြတ်အား အီမာန်ယုံကြည်ပြီးသည့်နောက်တွင်မှ ပြန်လည် ဖောက်ပြန်သွားသူပင် ဖြစ်သည်။

ဥပမာ–အဗ်ဒုလ္လာဟ် အီဗ်နအဗီစရဟ်သည် အီမာန်သက်ဝင်ယုံကြည်ပြီးသည့် နောက်သော်မှ လောကီရေးလောဘရမက်များကြောင့် ဖောက်ပြန် သွေဖည်သွားခဲ့လေသည်။

ဤသို့သော သာသနာရေးဖောက်ပြန်ရေးသမားကို "မုရ်တဒ္ဒ" ဟုခေါ်သည်။ မုရ်တဒ္ဒအပြစ်ကား– ကြီးမားလှ၏။ ရှေ့တွင် မိန့်ဆိုထားတော်မူလေသည်။ ယခုစပ်ကြားတွင် စကားညှပ်အဖြစ် ရှင်းချက်တစ်ခုကို မိန့်ဆိုထားတော်မူသည်။

**ရှင်းချက်။**

အကြင်မွတ်စ်လင်မ်တစ်ဦးသည် စိတ်စေတနာဖြူစင်စွာဖြင့်၊ အီမာန်အပေါ်၌ ရပ်တည်လျက်ရှိ၏။ အီမာန်နှင့် စပ်လျဉ်း၍ ထိုသူတို့၌ စိုးစဉ်းမျှပင် သံသယမရှိခဲ့ပေ။ အီမာန်သည် တစ်ချိန်တစ်ခါကမျှ ၎င်း၏ ➤➤

ذَٰلِكَ بِأَنَّهُمُ ٱسْتَحَبُّوا۟ ٱلْحَيَوٰةَ ٱلدُّنْيَا عَلَى ٱلْـَٔاخِرَةِ وَأَنَّ ٱللَّهَ لَا يَهْدِى ٱلْقَوْمَ ٱلْكَٰفِرِينَ ﴿١٠٧﴾

**၁၀၇။** ဤ(သို့ အမျက်တော်နှင့်ပြစ်ဒဏ်ခံကြရခြင်း) သည်ကားငင်းတို့သည် လောကီဘဝကို နောင်တမလွန်ဘဝထက်သာ၍ နှစ်သက် သဘောကျခဲ့ကြသောကြောင့်တည်း။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်သွေဖည်ငြင်းပယ်ကြကုန်သောသူတို့ကို တရားလမ်းမှန် ပြတော်မူသည်မဟုတ်ပေ။

أُو۟لَٰٓئِكَ ٱلَّذِينَ طَبَعَ ٱللَّهُ عَلَىٰ قُلُوبِهِمْ وَسَمْعِهِمْ وَأَبْصَٰرِهِمْ ۖ وَأُو۟لَٰٓئِكَ هُمُ ٱلْغَٰفِلُونَ ﴿١٠٨﴾

**၁၀၈။** ဤသူများတွင်အကြင်သူများတည်း။အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့၏ စိတ်နှလုံးများအပေါ်၌လည်းကောင်း၊ နားများအပေါ်၌လည်းကောင်း၊ မျက်စိများအပေါ်၌ လည်းကောင်း၊ တံဆိပ်ခပ်နှိပ်တော်မူခဲ့လေသည်။ ထိုမှတပါးဤသူများပင်(လောကီဘဝ၌ပျော်မြူးလျက် တမလွန်ဘဝကို) လျစ်လျူရှုနေကြသူများ ဖြစ်ကြကုန်သတည်း။

لَا جَرَمَ أَنَّهُمْ فِى ٱلْـَٔاخِرَةِ هُمُ ٱلْخَٰسِرُونَ ﴿١٠٩﴾

**၁၀၉။** ဧကန်စင်စစ် ၎င်းတို့သည် နောင်တမလွန်ဘဝတွင် နစ်နာဆုံးရှုံးသူများ ဖြစ်ကြရမည်မှာ မလွဲမရှောင်သာ(သော ကိစ္စပင်)ဖြစ်ပေသည်။

---

➤➤ စိတ်တွင်းမှ မကင်းကွာခဲ့ပေ၊ ထိုသို့သော မွတ်စလင်မ်တစ်ဦးသည် အနိုင်အထက် အတင်းအဓမ္မပြုလုပ်ခြင်းခံရပြီး အလွန်အလွန် စိုးရိမ်သည့်အခါမျိုးတွင် အသက်ဘေးမှ လွတ်မြောက်နိုင်ရန်အတွက် အီမာန်နှင့်ဆန့်ကျင်သည့်စကားကို စိတ်တွင်းမှမပါဘဲ အလွန်စက်ဆုပ်ရွံ့ရှာစွာဖြင့် ထုတ်ဖော်ခဲ့ရသည်ရှိသော်၊ ထိုသို့ပြောဆိုခဲ့ရသည့်အတွက် ထိုသူသည် အစ္စလာမ့်ဘောင်အပြင်သို့ ရောက်မသွားပေ။ ထိုသူသည် မွတ်စ်လင်မ်ပင်ဖြစ်သည်။ ထိုသူအား မွတ်စ်လင်မ်ဟူ၍ပင် မှတ်ယူရမည်။

သို့ရာတွင် ယင်းသို့ အတင်းအဓမ္မ ပြုလုပ်ခြင်းခံရပြီး အသက်အန္တရာယ် စိုးရိမ်ရသည့်အခါမျိုး၌ပင်လျှင် သာဝကကြီး ဗီလာလ်၊ သာဝကကြီး ယာစိရ်၊ သာဝကကြီး ဟုဗိုက်ဗ်၊ သာဝကကြီး အဗ်ဒုလ္လာဟ် အိဗ်နုဟုဇာဖဟ်၊ သာဝကကြီး ခဗ္ဗာဗ်၊ စုမိုပ်ယဟ်သခင်မ၊ ဇင်နီရဟ်သခင်မ၊ နဟ်ဒီယတ်သခင်မ စသည့်သာသနာ့အာဇာနည်များကဲ့သို့ အီမာန်နှင့်ဆန့်ကျင်သည့် စကားကိုမည်သည့်အခြေအနေ၊ မည်သည့်အဖြစ်၊ မည်သည့်ပတ်ဝန်းကျင်၌မျှ အလျှင်း မပြောဆိုခြင်းသည် ပို၍ပင် ကောင်းမြတ်ပေသည်။ ဤအကြောင်းများနှင့် စပ်လျဉ်း၍ အိဗ်နုကဆီရ်ကျမ်း (အ-၂၊ စ-၅၈၈)တွင် အကျယ်တွေ့ရှိရပေသည်။

ثُمَّ إِنَّ رَبَّكَ لِلَّذِينَ هَاجَرُوا مِنْ بَعْدِ مَا فُتِنُوا ثُمَّ جَاهَدُوا وَصَبَرُوا إِنَّ رَبَّكَ مِنْ بَعْدِهَا لَغَفُورٌ رَّحِيمٌ ﴿١١٠﴾

**၁၁၀။** ထို့နောက် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အကြင်သူတို့အဖို့ ထိုသူတို့သည် စမ်းသပ်ခြင်းကို ခံကြရပြီးနောက် ရွှေ့ပြောင်းနေထိုင်ခဲ့ကြ၏။ ၎င်းပြင် ထိုသူများသည် သက်စွန့်ကြိုးပမ်းဆောင်ရွက်ခဲ့ကြကုန်၏။ ၎င်းပြင် ထိုသူများသည် ချုပ်တည်း သည်းခံခဲ့ကြကုန်၏။ မုချအမှန် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ယင်း(ကိစ္စများ)၏နောက်တွင် အမှန်ပင်အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့်ပေးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော အရှင်မြတ်၊ ဖြစ်တော်မူပေသတည်း။

يَوْمَ تَأْتِي كُلُّ نَفْسٍ تُجَادِلُ عَن نَّفْسِهَا وَتُوَفَّىٰ كُلُّ نَفْسٍ مَّا عَمِلَتْ وَهُمْ لَا يُظْلَمُونَ ﴿١١١﴾

**၁၁၁။** (ဤကျိုးပြစ်ပေးခြင်းသည် အကြင်နေ့တွင် ဖြစ်ပေမည်။) ထိုနေ့တွင် လူတိုင်းလူတိုင်းသည် မိမိဘက်မှသာလျှင် (ဝါ) မိမိကိုယ်ကိုကာကွယ်၍သာလျှင် ငြင်းခုံပြောဆိုလျက် လာပေမည်။ ထိုမှတပါး လူတိုင်းလူတိုင်းသည် မိမိကျင့်မူခဲ့သော အကျင့်အမူများ(၏အကျိုးအပြစ်)ကို အပြည့်အစုံပေးခြင်းကို ခံရပေမည်။ အမှန်စင်စစ် ၎င်းတို့သည် မတရားပြုလုပ်ခြင်းကို လုံးဝခံကြရမည် မဟုတ်ပေ။

وَضَرَبَ اللَّهُ مَثَلًا قَرْيَةً كَانَتْ آمِنَةً مُّطْمَئِنَّةً يَأْتِيهَا رِزْقُهَا رَغَدًا مِّن كُلِّ مَكَانٍ فَكَفَرَتْ بِأَنْعُمِ اللَّهِ

**၁၁၂။** ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် ရွာတစ်ရွာနှင့်စပ်လျဉ်း၍ ပုံဆောင်ချက်တစ်ရပ်ကို ခိုင်းနှိုင်းတော်မူလေသည်။ ထိုရွာ(သူ ရွာသားတို့)သည် ဘေးရန်ကင်းငြိမ်းလျက်နှစ်သိမ့်ပျော်မွေ့စွာရှိခဲ့(ကြကုန်)သည်။ ယင်းရွာ(သူရွာသားတို့ထံ)သို့ ယင်း(ရွာသူရွာသားတို့)၏စားနပ်ရိက္ခာသည် နေရာတိုင်းမှ ဖောသီစွာ ရောက်ရှိလျက်ရှိလေသည်။ သို့ရာတွင် ယင်းရွာ(သူ ရွာသားတို့)မူကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို ငြင်းပယ်ခဲ့(ကြ)လေသည်။

فَاَذَاقَهَا اللّٰهُ لِبَاسَ الْجُوْعِ وَالْخَوْفِ بِمَا كَانُوْا يَصْنَعُوْنَ ﴿١١٢﴾

သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်သည် ထိုရွာ(သူရွာသားတို့)အား ထိုသူတို့၏ အကျင့်အမူတို့ကြောင့် ဆာလောင်မှုကိုလည်းကောင်း၊ ကြောက်ရွံ့ထိတ်လန့်မှုကို လည်းကောင်း၊ မြည်းစမ်းစေတော်မူခဲ့ပေသတည်း။ ၁

(၁) ဤအာယတ်တော်နှင့်စပ်လျဉ်း၍ အဖွင့်နှစ်ရပ်ကို တွေ့ရှိရပေသည်။

(က) ဤအာယတ်တော်တွင် ပါရှိသော မြို့ရွာဟူသည် သီးသန့်ဖြစ်သော မြို့ရွာကို ဆိုလိုသည် မဟုတ်။ ပုဂ္ဂလဓိဋ္ဌာန်မဟုတ်၊ ဓမ္မဓိဋ္ဌာန်ပင်ဖြစ်သည်။

အဘယ့်ကြောင့်ဆိုသော် အတိတ်ခေတ်များတွင် ရှိခဲ့ကြသော ကာဖိရ်များသည်လည်း အစပထမသော် မိမိတို့၏ မြို့ရွာများ၌ အေးချမ်းသာယာစွာနေထိုင်ခဲ့ရ၏။ ဖောဖောသီသီ စားသောက်ခဲ့ကြရ၏။ ၎င်းတို့၌ တမန်တော်များလည်း ပွင့်လာခဲ့ကြ၏။ ဤသို့ သုခချမ်းသာ အဖြာဖြာကို ရရှိခဲ့ကြပါလျက် ယင်းကာဖိရ်များသည် ကျေးဇူးမသိတတ်ခဲ့ကြသည်သာမက ကျေးဇူးပင်ကန်းခဲ့ကြပေသည်။ မိမိတို့၏ တမန်တော်၏ သြဝါဒတော်များကို မနာခံခဲ့ကြသည်သာမက တမန်တော်အားပင် ရန်ပြုခဲ့ကြပေသည်။ ယင်းသို့ကျေးဇူးကန်းခဲ့ကြသည့်အတွက် ယင်းကာဖိရ်များသည် ရရှိထားခဲ့ကြသည့် သုခချမ်းသာများကို လက်လွတ်ဖြစ်ခဲ့ကြရသည်သာမက ပြစ်ဒဏ်ခတ်တော်မူခြင်းကိုပင် ခံခဲ့ကြရပေသည်။

ဤသို့ ပုံဆောင်မိန့်ကြားထားတော်မူခြင်းမှာ မက္ကာမြို့သား ကာဖိရ်များကို ရည်ညွှန်းတော်မူခြင်းပင် ဖြစ်သည်။

ဆိုလိုသည်ကား . . . အို-မက္ကာမြို့သား ကာဖိရ်အပေါင်းတို့၊ အသင်တို့လည်း အတိတ်ခေတ် ကာဖိရ်များကဲ့သို့ပင် သုခချမ်းသာအဖြာဖြာကို ခံစားကြရသည်။ (ဝါ) အေးချမ်းသာယာစွာ နေထိုင်ကြရသည်။ ဖောဖောသီသီ စားသောက်ကြရသည်။ အသင်တို့၌ တမန်တော်လည်း ပွင့်လျက်ရှိချေပြီ။ သို့ပါလျက် အသင်တို့လည်း အတိတ်ခေတ် ကာဖိရ်များကဲ့သို့ပင် ကျေးဇူးကန်းကြသော်၊ တမန်တော်အား သွေဖည်ငြင်းဆန်မနာခံကြသော်။ အသင်တို့လည်း အတိတ်ခေတ်ကာဖိရ်များကဲ့သို့ပင် ပြစ်ဒဏ်ခတ်တော်မူခြင်းကို မလွဲဧကန် ခံကြရမည်သာဖြစ်သည်။

မက္ကာမြို့သား ကာဖိရ်များသည် နောက်ဆုံးတွင် ကျေးဇူးကန်း၍ တမန်တော်မြတ်အား ရန်ပြုခဲ့ကြသည့်အတွက် ၎င်းတို့၏မြို့ရွာများ၌ ဒုဗ္ဘိက္ခန္တရကပ်ဆိုက် ရောက်ခဲ့လေသည်။ ၎င်းတို့ကိုယ်တိုင် နှင်ထုတ်ခဲ့ကြသော မွတ်စ်လင်မ်တို့ကိုပင် အကြောက်ကြီး ကြောက်၍နေခဲ့ကြရပေသည်။ ဤကားသမိုင်းစဉ်တွင် အထင်အရှားပင်။

(ခ)ဤအာယတ်တော်တွင် ပါရှိသော မြို့ရွာဟူသည် မက္ကာမြို့တော်ကို ဆိုလိုသည်ဟု အချို့အာလင်မ်များက ဆိုကြသည်။ မက္ကာမြို့တော်သည် လွင်တီးခေါင်သဲကန္တာရဖြစ်ပါလျက် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် စားဖွယ်၊ သောက်ဖွယ်၊ အသီးအနှံအမျိုးမျိုး ရရှိခဲ့ပေသည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ် (၂၈း၅၇)တွင် မိန့်ဆိုထားတော်မူသည်။

ယင်းမက္ကာမြို့သားများထံသို့ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစ္စလမ်)အား စေလွှတ်တော်မူခဲ့လေသည်။ သို့တစေလည်း ယင်းမက္ကာမြို့သားများသည် ကျေးဇူးကန်းခဲ့ကြပေသည်။ တမန်တော်မြတ်အားလည်း သွေဖည်ငြင်းပယ်ခဲ့ကြပေသည်။ ကြည့်-ကုရ်အာန်(၁၄း၂၈) ➤➤

وَلَقَدْ جَآءَهُمْ رَسُولٌ مِّنْهُمْ فَكَذَّبُوهُ فَأَخَذَهُمُ ٱلْعَذَابُ وَهُمْ ظَٰلِمُونَ ١١٣

**၁၁၃။** ထိုမှတပါးမလွဲဧကန် ၎င်းတို့ထံ ၎င်းတို့အနက်မှပင် ရစူလ်တမန်တော်တစ်ပါးသည် ရောက်ရှိလာခဲ့လေသည်။ သို့ရာတွင် ၎င်းတို့သည် ယင်းရစူလ်တမန်တော်အား မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြလေသည်။ သို့ဖြစ်ပေရာ ပြစ်ဒဏ်သည် ၎င်းတို့အား ၎င်းတို့ မတရားသောသူများဖြစ်နေကြစဉ် ဖမ်းဆီးကွပ်မျက်ခဲ့လေသည်။

فَكُلُوا۟ مِمَّا رَزَقَكُمُ ٱللَّهُ حَلَٰلًا طَيِّبًا وَٱشْكُرُوا۟ نِعْمَتَ ٱللَّهِ إِن كُنتُمْ إِيَّاهُ تَعْبُدُونَ ١١٤

**၁၁၄။** သို့ဖြစ်ပေရာ အသင်တို့သည် မိမိတို့အား အလ္လာဟ်အရှင်မြတ်က ချီးမြှင့်ပေးသနားတော်မူသော အရာများအနက် သန့်ရှင်းစင်ကြယ်သော၊ စားသုံးခွင့်ပြုတော်မူသော၊ အရာများကို စားသုံးကြလေကုန်။ ထိုမှတပါး အသင်တို့သည်အလ္လာဟ်အရှင်မြတ်ကိုသာ ခဝပ်ကိုးကွယ်ကြပါလျှင် ထိုအရှင်မြတ်၏ ကျေးဇူးတော်များနှင့်စပ်လျဉ်း၍ ကျေးဇူးတင်ရှိကြလေကုန်။

➤➤ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် ယင်းမက္ကာမြို့သားများ၌ ဒုဗ္ဘိက္ခန္တရကပ်ကိုလည်း ဆိုက်ရောက်စေတော်မူခဲ့သည့်အတွက် အသေသား၊ သွေးသားများကို စားရသည့်အထိ ဖြစ်ခဲ့ကြရ၏။ မွတ်စ်လင်မ်တို့အား အခါခပ်သိမ်း ကြောက်ရွံ့၍ နေခဲ့ကြရ၏။ မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်များသည် ယင်းကဲ့သို့ ကာယဒုက္ခ၊ စိတ္တဒုက္ခအမျိုးမျိုးကို ခံစားနေခဲ့ကြရသော်လည်း ၎င်းတို့၏ နှိပ်စက်ညှဉ်းပန်းမှုတို့ကြောင့် မက္ကာမြို့မှပင် ထွက်ခွာသွားခဲ့ကြရသော မွတ်စ်လင်မ်တို့မှာမူ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် အေးချမ်းသာယာစွာ နေကြရပေသည်။ ဖောသီစွာ စားသောက်ကြရပေသည်။ စိုးရိမ်ကြောင့်ကြမှုလည်း ကင်းကြပေသည်။

ဤဖွင့်ဆိုချက်အရ အလ္လာဟ်အရှင်မြတ်သည် မဒီနာမြို့သားတို့အား မက္ကာမြို့သားများ၏ အဖြစ်အပျက်ကို ပြောကြားတော်မူ၍ "အို-မဒီနာမြို့သား အပေါင်းတို့၊ အသင်တို့သည် မက္ကာမြို့သား ကာဖိရ်များကဲ့သို့ မဖြစ်ကြကုန်လင့်" ဟူ၍ သတိပေး နှိုးဆော်ထားတော်မူခြင်းဖြစ်သည်။

ဤဒုတိယအဖွင့်အရ ဤအာယတ်တော်သည် (မဒနီ) မဒီနာမြို့၌ ထုတ်ပြန်ချမှတ်တော်မူသော အာယတ်တော်ဖြစ်သည်။ ထာနဝီ။

إِنَّمَا حَرَّمَ عَلَيْكُمُ الْمَيْتَةَ وَالدَّمَ وَلَحْمَ الْخِنزِيرِ وَمَا أُهِلَّ لِغَيْرِ اللَّهِ بِهِ فَمَنِ اضْطُرَّ غَيْرَ بَاغٍ وَلَا عَادٍ فَإِنَّ اللَّهَ غَفُورٌ رَّحِيمٌ ﴿١١٥﴾

**၁၁၅။** ထိုအရှင်မြတ်သည် အသေကောင်(များ)၊ (ယိုစီးသော)သွေး၊ ဝက်တိရစ္ဆာန်၏ အသားနှင့် အလ္လာဟ်အရှင်မြတ်မှတစ်ပါးအခြားကို ရည်စူး(တသလီးဖြတ်)ထားသော အရာများကိုသာလျှင် "ဟရာမ်" ဟူ၍ မြစ်တားထားတော်မူခဲ့လေသည်။

သို့(တားမြစ်ထားတော်မူသော်)ငြားလည်း မလွှဲမရှောင်သာ(အောင် အကျပ်အတည်း တွေ့ကြုံနေ)သောသူတစ်ဦးသည်(တားမြစ်ထားသော အာဟာရကို ခံမင်)တပ်မက်သူ မဟုတ်၍လည်းကောင်း၊ (အစား)ကျူးသူမဟုတ်၍လည်းကောင်း (အသက်မသေရုံမျှစားသုံးခဲ့ပါလျှင်) ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အထူး ချမ်းသာခွင့် ပေးသနားတော်မူသော အရှင်၊ အထူး သနားကြင်နာတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

وَلَا تَقُولُوا لِمَا تَصِفُ أَلْسِنَتُكُمُ الْكَذِبَ هَٰذَا حَلَالٌ وَهَٰذَا حَرَامٌ لِّتَفْتَرُوا عَلَى اللَّهِ الْكَذِبَ إِنَّ الَّذِينَ يَفْتَرُونَ عَلَى اللَّهِ الْكَذِبَ لَا يُفْلِحُونَ ﴿١١٦﴾

**၁၁၆။** ထိုမှတပါးအသင်တို့သည် မိမိတို့၏ နှုတ်လျှာများက မုသားကို ပြောဆိုပြဋ္ဌာန်းခဲ့သောကြောင့် ဤကား "ဟလာလ်" ခွင့်ပြုထားသောအရာဖြစ်သည်။ ဤကား "ဟရာမ်" တားမြစ်ထားသောအရာ ဖြစ်သည်ဟူ၍ မပြောဆိုကြကုန်လင့်။ ထိုသို့ ပြောဆိုလျှင် အသင်တို့သည် *အလ္လာဟ်အရှင်မြတ်အပေါ်၌ မုသားကို လီဆယ်စွပ်စွဲကြသည်သာဖြစ်ပေမည်။* [၁] ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်အပေါ်၌ မုသားကို လီဆယ်စွပ်စွဲကြသောသူတို့သည် အောင်မြင်ကြမည် မဟုတ်ပေ။

(၁) အလ္လာဟ်အရှင်မြတ်က ဟလာလ်ပြုထားတော်မူသော အရာသာလျှင် ဟလာလ်ဖြစ်၏။ ထိုအရှင်မြတ်က ဟရာမ်ပြုထားတော်မူသော အရာသာလျှင် ဟရာမ်ဖြစ်၏။ ထိုအရှင်မြတ်မှတပါး အခြား မည်သူတစ်ဦးတစ်ယောက်မျှ ဟလာလ်၊ ဟရာမ်ဟူ၍ ပြဋ္ဌာန်းပိုင်ခွင့် အလျှင်းမရှိပေ။ 

مَتَاعٌ قَلِيلٌ ۖ وَلَهُمْ عَذَابٌ أَلِيمٌ ﴿١١٧﴾

၁၁၇။ အနည်းငယ်မျှအကျိုးခံစားမှုပင် ဖြစ်ပေသည်။ ၎င်းပြင် ထိုသူတို့၌ ပြင်းပြနာကျင်ဖွယ်ဖြစ်သော အပြစ်ဒဏ်သည် ရှိပေမည်။

وَعَلَى الَّذِينَ هَادُوا حَرَّمْنَا مَا قَصَصْنَا عَلَيْكَ مِن قَبْلُ ۖ وَمَا ظَلَمْنَاهُمْ وَلَٰكِن كَانُوا أَنفُسَهُمْ يَظْلِمُونَ ﴿١١٨﴾

၁၁၈။ ထို့အပြင် ငါအရှင်မြတ်သည် ယဟူဒီ ဖြစ်ခဲ့သောသူတို့အပေါ်၌ အသင့်အား ငါအရှင်မြတ် ယခင်က ထုတ်ဖော် မိန့်ကြားတော်မူခဲ့သောအရာများကို ဟရာမ်ဟူ၍ မြစ်တားတော်မူခဲ့လေသည်။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ၎င်းတို့အား နှိပ်စက်ကလူ ပြုတော်မူခဲ့သည် မဟုတ်ပေ။ သို့ရာတွင် ၎င်းတို့ ကိုယ်တိုင် မိမိတို့ကိုယ်များကို နှိပ်စက်ကလူ ပြုလျက် ရှိခဲ့ကြကုန်သတည်း။

ثُمَّ إِنَّ رَبَّكَ لِلَّذِينَ عَمِلُوا السُّوءَ بِجَهَالَةٍ ثُمَّ تَابُوا مِن بَعْدِ ذَٰلِكَ وَأَصْلَحُوا إِنَّ رَبَّكَ مِن بَعْدِهَا لَغَفُورٌ رَّحِيمٌ ﴿١١٩﴾

၁၁၉။ ထို့နောက်ဧကန်စင်စစ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အကြင်သူတို့အဖို့၊ ၎င်းတို့သည် အသိပညာကင်းမဲ့သောကြောင့် မကောင်းမှုကို ကျူးလွန်ခဲ့ကြကုန်၏။ ထို့နောက် ၎င်းတို့သည် ဝန်ချတောင်းပန်ခဲ့ကြကုန်၏။ ထို့ပြင် ၎င်းတို့သည် (မိမိတို့ အခြေအနေကိုလည်း) ပြုပြင်ခဲ့ကြကုန်၏။ ဧကန်မလွဲ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ထို(သူတို့ဝန်ချတောင်းပန်ပြီး)နောက်တွင် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

➤➤ မက္ကာမြို့သား မုရှ်ရစ်က်များက-"ဤသည်ဟရာမ်၊ ဤသည်ဟလာလ်ဖြစ်သည်" ဟု ဆိုခဲ့ကြသည် သာမက အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍လည်း မုသားပြောဆိုခဲ့ကြသည်။ ကြည့်- ကုရ်အာန် (၆း၁၃၉-၁၄၁)။ ဤကဲ့သို့ အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ပင် မုသားပြောဆိုဝံ့သော သူမိုက်များသည် ဘယ်သော အခါ၌မျှ အောင်မြင်ကြမည်မဟုတ်ပေ။ ထိုမှတပါး ကြီးလေးသော ပြစ်ဒဏ်ကိုလည်း မုချခံကြရဦးမည် ဖြစ်သည်။ ထို့အတွက် မွတ်စ်လင်မ်များသည် ယင်းမုရှ်ရစ်က်များကဲ့သို့ မမိုက်မှားမိကြရန် တရားဝင်သက်သေ သာဓက အခိုင်အလုံမရှိဘဲ ပြောမှားဆိုမှားမဖြစ်မိကြရန် ဤအာယတ်တော်တွင် သတိပေးထားတော်မူ ခြင်းဖြစ်သည်။

إِنَّ إِبْرَٰهِيمَ كَانَ أُمَّةً قَانِتًا
لِّلَّهِ حَنِيفًا وَلَمْ يَكُ
مِنَ الْمُشْرِكِينَ ١٢٠

၁၂၀။ မချွတ်မလွဲ (နဗီတမန်တော်)အီဗ်ရာဟီမ်သည် အလွန်အတုယူထိုက်သောရှေ့ဆောင်ရှေ့ရပ်၊ အလ္လာဟ် အရှင်မြတ်(၏ အမိန့်တော်များ)ကို (တစ်သွေမတိမ်း) လိုက်နာသူ၊ တစ်စိတ်တစ်လက်တည်း ဖြောင့်မတ် တည်ကြည်သူ၊ ဖြစ်ခဲ့လေသည်။

ထို့ပြင် ယင်း(နဗီတမန်တော်)အီဗ်ရာဟီမ်သည် မုရှ်ရစ်က် တစ်စုံတစ်ရာကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ် ကိုးကွယ်သူတို့အနက်မှ မဖြစ်ခဲ့ချေ။

شَاكِرًا لِّأَنْعُمِهِ ۚ اجْتَبَاهُ
وَهَدَاهُ إِلَىٰ صِرَاطٍ
مُّسْتَقِيمٍ ١٢١

၁၂၁။ ထိုအရှင်မြတ်၏ ကျေးဇူးတော်များကို အလွန် သိတတ်၍ ကျေးဇူးတင်ရှိသူဖြစ်ခဲ့၏။

ထိုအရှင်မြတ်သည် ယင်း(နဗီတမန်တော်) အီဗ်ရာဟီမ်အား ရွေးချယ်တော်မူ၍ ဖြောင့်မတ်မှန်ကန် သောတရားလမ်းသို့လည်း ပို့တော်မူခဲ့သတည်း။

وَآتَيْنَاهُ فِي الدُّنْيَا حَسَنَةً ۖ
وَإِنَّهُ فِي الْآخِرَةِ لَمِنَ
الصَّالِحِينَ ١٢٢

၁၂၂။ ထိုမှတပါး ငါအရှင်မြတ်သည် ထို(နဗီတမန် တော်)အီဗ်ရာဟီမ်အားဤမျက်မှောက်လောက၌လည်း၊ ကောင်းမြတ်ခြင်းကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။

၎င်းပြင် ဧကန်စင်စစ် ယင်း(နဗီတမန်တော်) အီဗ်ရာဟီမ်သည် တမလွန်ဘဝ၌လည်း အမှန်ပင် သူတော်စင်တို့အနက်မှ ဖြစ်အံ့သတည်း။

ثُمَّ أَوْحَيْنَا إِلَيْكَ أَنِ اتَّبِعْ
مِلَّةَ إِبْرَاهِيمَ حَنِيفًا ۖ وَمَا كَانَ
مِنَ الْمُشْرِكِينَ ١٢٣

၁၂၃။ ထို့နောက် ငါအရှင်မြတ်သည် အသင်တို့၏ထံ သို့ (နဗီတမန်တော်)အီဗ်ရာဟီမ်၏ လမ်းစဉ်ကို လိုက် နာပါလေဟု အမိန့်တော် ချမှတ်တော်မူခဲ့လေသည်။ (အမှန်စင်စစ် ယင်းနဗီတမန်တော် အီဗ်ရာဟီမ်သည်) ဖြောင့်မတ်တည်ကြည်သူဖြစ်ခဲ့၏။

ငင်းပြင် မုရှ်ရစ်က် တစ်စုံတစ်ရာကို အလ္လာဟ်
အရှင်မြတ်နှင့် တွဲဖက်နိူင်းယှဉ် ကိုးကွယ်သူတို့
အနက်မှလည်း မဖြစ်ခဲ့ချေ။ [၁]

(၁) **တမန်တော်အီဗ်ရာဟီမ်၏ ဂုဏ်ရည်။**

အထက်တွင် အရဗ်မုရှ်ရစ်က်တို့၏ မှားယွင်းမှု၊ မိုက်မဲမှုများအကြောင်းကို မိန့်ဆိုထားတော်မူ၏။ အရဗ်မုရှ်ရစ်က်များသည် မျိုးနွယ်အားဖြင့် တမန်တော် အီဗ်ရာဟီမ်၏ မျိုးနွယ်ဆက်များဖြစ်ကြ၏။ ငင်းတို့က မိမိတို့သည် တမန်တော်အီမ်ရာဟီမ်၏ သာသနာအပေါ်၌ တည်ရှိကြသည်ဟု ကြွားဝါပြောဆိုကြ၏။

အမှန်မှာ ငင်းတို့၏ အကျင့်အမူများသည် တမန်တော်အီဗ်ရာဟီမ်၏ သာသနာနှင့် လားလားမျှ မသက်ဆိုင်။ ဖြောင့်ဖြောင့်ကြီးပင် ဆန့်ကျင်လျက်ရှိ၏။ ထို့အတွက် ဤအာယတ်တော်တွင် အရဗ်မုရှ်ရစ်က်များ သတိသံဝေဂ နှောင်တတရား ရရှိနိုင်ရန်အတွက် တမန်တော်အီဗ်ရာဟီမ် (အလိုင်ဟစ္စလမ်)၏ အချို့ဂုဏ်ရည်များကို မိန့်ဆိုထားတော်မူသည်။

တမန်တော်အီဗ်ရာဟီမ်သည် မုရှ်ရစ်က်တို့နှင့် ယှဉ်ပြိုင်ရန်အတွက် တစ်ဦးတည်းသည်ပင် အုပ်စုကြီး တစ်ခုနှင့် ညီမျှပေသည်။ တမန်တော်အီဗ်ရာဟီမ်သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို မြေဝယ်မကျ လိုက်နာသည်။ တမန်တော်အီဗ်ရာဟီမ်သည် အရာခပ်သိမ်းတို့ကို စွန့်၍ အလ္လာဟ်အရှင်မြတ်အားသာလျှင် ယုံကြည်မြတ်နိုးသည်။ တမန်တော်အီဗ်ရာဟီမ်သည် ရှရ်စ်က် အမှုပြုရန်ဝေးစွ၊ မုရှ်ရစ်က်များနေထိုင်ရာဒေသ၌ပင် မနေလိုခဲ့ပေ။

တမန်တော်အီဗ်ရာဟီမ်သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို ကောင်းစွာသိသည်။ ကျေးဇူးမကန်းခဲ့ပေ။ ဧည့်သည့်မပါဘဲ ထမင်းစားလေ့ပင်မရှိပေ။ ထို့အတွက်ကြောင့်လည်း အလ္လာဟ်အရှင်မြတ်က တမန်တော်အီဗ်ရာဟီမ်အား ရွေးချယ်မြှောက်စားတော်မူခဲ့၏။ ဖြောင့်မတ် မှန်ကန်သောတရားကို ချီးမြှင့်တော်မူခဲ့၏။ နှစ်ဘဝလုံးတွင် သုခချမ်းသာ အဖြာဖြာကို ပေးတော်မူခဲ့၏။ ဤသည် တမန်တော်အီဗ်ရာဟီမ်၏ ဂုဏ်ရည်အချို့ ဖြစ်သည်။

တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် တမန်တော်မြတ်၏ နောက်လိုက် တပည့်သားတို့သည် တမန်တော်အီဗ်ရာဟီမ်၏ သာသနာတော်ကို လက်တွေ့လိုက်နာ ကျင့်သုံးလျက်ရှိကြသည်။ ကြည့်- ကုရ်အာန်(၃း ၆၇) အရဗ်မုရှ်ရစ်က်တို့သည် ယုံကြည်ချက်၊ ကျင့်စဉ်၊ အပြောအဆို အပြုအမူ အရေးကိစ္စအဝဝတွင် တမန်တော်အီဗ်ရာဟီမ်နှင့် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်လျက်ရှိကြပေရာ "ကျွန်ုပ်တို့သည် တမန်တော်အီဗ်ရာဟီမ်၏ သာသနာအပေါ်၌ တည်ရှိကြပါသည်" ဟု အသို့လျှင် ပြောဆိုနိုင်ကြအံ့နည်း။ အကယ်၍ အရဗ်မုရှ်ရစ်က်များသည် တမန်တော်အီဗ်ရာဟီမ်၏ သာသနာဝင်များ ဖြစ်လိုကြပါလျှင် ငင်းတို့သည် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဩဝါဒတော်များကို တစ်သွေမတိမ်း လိုက်နာကြရမည်သာဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ဟောကြားတော်မူသော အစ္စလာမ်သာသနာတော်သည် အခြားမဟုတ်၊ တမန်တော် အီဗ်ရာဟီမ်၏ သာသနာပင် ဖြစ်သည်။

إِنَّمَا جُعِلَ السَّبْتُ عَلَى الَّذِينَ اخْتَلَفُوا فِيهِ ۚ وَإِنَّ رَبَّكَ لَيَحْكُمُ بَيْنَهُمْ يَوْمَ الْقِيَامَةِ فِيمَا كَانُوا فِيهِ يَخْتَلِفُونَ ﴿١٢٤﴾

၁၂၄။ "စဗ်တ်" (ဥပုသ်)နေ့(ကို ရိုသေလေးစားရန် အမိန့်တော်)သည် ထို "စဗ်တ်" (ဥပုသ်)နေ့နှင့် စပ်လျဉ်း၍ သဘောကွဲလွဲကြကုန်သောသူတို့အပေါ် ၌သာလျှင် (အတည်)ပြုလုပ်ခြင်း ခံခဲ့ရလေသည်။ ၎င်းပြင် ဧကန်အမှန် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် ကိယာမတ် ရှင်ပြန်ထမည့်နေ့တွင် ၎င်းတို့သဘောကွဲလွဲလျက် ရှိခဲ့ကြသော အရာနှင့် စပ်လျဉ်း၍ အမှန်ပင် စီရင်ဆုံးဖြတ်တော်မူအံ့သတည်း။

ادْعُ إِلَىٰ سَبِيلِ رَبِّكَ بِالْحِكْمَةِ وَالْمَوْعِظَةِ الْحَسَنَةِ ۖ وَجَادِلْهُم بِالَّتِي هِيَ أَحْسَنُ ۚ إِنَّ رَبَّكَ هُوَ أَعْلَمُ بِمَن ضَلَّ عَن سَبِيلِهِ ۖ وَهُوَ أَعْلَمُ بِالْمُهْتَدِينَ ﴿١٢٥﴾

၁၂၅။ (အို-နဗီတမန်တော်) အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏လမ်းတော်သို့ (လူတို့အား) ဉာဏ်ပညာနှင့် လည်းကောင်း၊ ကောင်းမြတ်သော ဆုံးမဩဝါဒနှင့် လည်းကောင်း၊ ဖိတ်ခေါ်ပါလေ။ ထိုမှတစ်ပါး အသင်သည် ၎င်းတို့အား *အကောင်းဆုံးနည်းဖြင့် အချေအတင် ပြောဆိုပါလေ။* [၁] ဧကန်မလွဲ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည်ပင် ထိုအရှင်မြတ်၏ လမ်းတော်မှ *တိမ်းလွဲခဲ့သောသူအား အသိဆုံးဖြစ်တော်မူပေသည်။* [၂] ထိုနည်းတူစွာ ထိုအရှင်မြတ်သည်ပင် တရားလမ်းမှန်ကို ရရှိကြကုန်သော သူတို့အားလည်း အသိဆုံး ဖြစ်တော်မူချေသတည်း။

---

(၁) <u>တရားဓမ္မဟောကြားနည်း။</u>

ဤအာယတ်တော်တွင် လူသားတို့အား မည်သို့မည်ပုံ တရားဓမ္မဟောကြားရသည်ကို အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား သင်ကြားပြသထားတော်မူသည်။ တရားဓမ္မဟောကြားရာတွင် အောက်ပါအချက်သုံးချက်ကို လက်ကိုင်ထားရပေမည်။

၁။ ဟစ်က်မတ်၊

၂။ မောင်အိဇွတ် ဟစနဟ်၊

၃။ ဂျီဒါလ် ဗစ်လ္လတီ ဟိယ အဟ်စန်။

➤➤

➤➤ ၁။ **ဟစ်က်မတ်** - ဟူသည် ပညာနှင့်ပြည့်ဝသော၊ ပညာပါသော၊ အကိုးအကားခိုင်လုံသော တရားစကားများကို ပညာရှိပီပီ ပညာပါပါ ဟောပြောခြင်းကို ဆိုလိုသည်။ ယင်းသို့သော ဟောပြောသော တရားစကားများကို အမြော်အမြင်ရှိသော ပညာရှိများသည် လက်ခံကြသည်သာဖြစ်သည်

ယနေ့တိုးတက်လျက်ရှိသော အသိ၊ ပညာ၊ ဗဟုသုတ အတွေးအခေါ်များသည်လည်း ထိုသည့်တရားစကားများကို အနည်းငယ်စိုးစဉ်းမျှပင် ဖြည့်စွက် နုတ်ပယ်နိုင်မည် မဟုတ်ပေ။ ခြွင်းချက်မရှိ ထောက်ခံရမည်သာ ဖြစ်သည်။

၂။ **မောင်အိဇွဖ် ဟစနဟ်**-ဟူသည် စိတ်နှလုံးသားကို ဆွဲဆောင်နူးညွတ်စေသော၊ နူးညံ့သိမ်မွေ့သော၊ ပီတိဖြစ်စေသော၊ ကောင်းမွန်မြင့်မြတ်လှသည့် တရားစကားကို ဆိုလိုသည်။ ဤသည့်တရားစကားသည်လည်း သစ္စာ၊ မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ သနားကြင်နာ၊ ထောက်ထားစာနာလေးစားမှု၊ သူတစ်ပါးအကျိုးသယ်ပိုးလိုမှု၊ ပြေပြစ်မှု၊ ကြည်ဖြူမှု၊ ယဉ်ကျေးသိမ်မွေ့မှု၊ ဖွယ်ရာခြေင်မှု၊ နူတ်ထွက်သာယာမှုစသည့် မေတ္တာတရားများကို အရင်းခံ၍ ထွက်ပေါ်လာသည့် တရားစကားဖြစ်စေရမည်။

ဤသို့သောတရားစကားများကို ကြားနာရသည့်အခါ ကျောက်ခဲတမျှ မာကျောခက်ထန်နေသော စိတ်များသည်ပင် ဖရ်ဏာပီတိဂွမ်းဆီထိသို့ နူးညွတ်သွားပေသည်။ သေနေသောစိတ်များသည်ပင် ရှင်လာပေသည်။ မျှော်လင့်ချက်ကုန်ဆုံးသော သူများသည်ပင် ယင်းသို့သောတရားစကားများ ကြားနာကြရသည့်အခါ မျှော်လင့်ချက်ကြီးစွာဖြင့် တက်တက်ကြွကြွ နိုးနိုးကြားကြား ဖြစ်လာကြပေသည်။

၃။ **ဂျီဒါလ် ဗစ်လ္လတီ ဟိယ အဟ်စန်**-ဟူသည် ကျိုးကြောင်းပြ၍ ခြေငံပြေပြစ်စွာ ပြန်လည်ချေပ ပြောဆိုခြင်းကို ဆိုလိုသည်။ လူ့လောကတွင် လူတစ်စုသည် ယခင်ကလည်း အမြဲတစေရှိခဲ့သည်။ ယခုလည်း ရှိနေသည်။ နောင်တွင်လည်း ရှိနေမည် ဖြစ်သည်။

ထိုသူများသည် ပညာပါသော၊ အကိုးအကားခိုင်လုံသော စကားကိုလည်း လက်မခံ၊ နူးညံ့သိမ်မွေ့သော တရားစကားကိုလည်း မကြားနာ။ ထိုသူများသည် အငြင်းသန်ကြသည်။ စကားတိုင်းတွင် အငြင်းအခုံပြုကြသည်။ အမျိုးမျိုး စောဒနာတက်ကြသည်။ ငါတကောကောကြသည်။ ထိုသို့သောသူများသည် တစ်ခါတစ်ရံ တကယ်ရိုးသားဖြောင့်မတ်သော ပညာရှင် သူတော်စင်များကို ပင်လျှင် ဇဝေဇဝါဖြစ်စေကြသည်။ ဤသို့သောသူများသည် အမှန်မှာ လူရှုပ်လူပွေများသာ ဖြစ်ကြသည်။ ယင်းသို့သောသူများအား လက်ခံစကားပြောရန်ပင်မလိုပေ။

သို့တစေလည်း မလွှဲမရှောင်သာ၍ ယင်းသို့သောသူများနှင့် စကားပြောဆိုရလျှင်လည်း ကျိုးကြောင်းပြ၍ ခြေငံပြေပြစ်စွာပင် စကားပြောဆိုရပေမည်။ မချေမငံ အလျှင်းမပြောဆိုရ။ သူတစ်ပါး၏ စိတ်ကို ထိခိုက်နစ်နာစေသည့် အသုံးအနှုန်းကို အလျှင်းမသုံးရ၊ ဖရုသဝါစာစကား အလျှင်းမဆိုရ။ ယင်းသို့ မချေမငံသောစကားပြောဆိုခြင်းဖြင့် ပြဿနာသည် မပြေလည်သည်သာမက ပို၍ပင် ရှုပ်ထွေးလာပေမည်။ ကြမ်းကြုတ်သောစကားပြောဆိုခြင်းဖြင့် အကျိုးမရှိ၊ အရှုံးသာရှိသည်။ ထို့အတွက် မလွှဲမရှောင်သာ၍ အချေအတင်ပြေဆိုရလျှင်လည်း ကျိုးကြောင်းပြ၍ ခြေငံပြေပြစ်စွာပင် ပြောဆိုရမည်။ ဤကား "ဂျီဒါလ် ဗစ်လ္လတီ ဟိယအဟ်စန်" ပင်တည်း။

Ⓙ တရားဓမ္မဟောကြားရာတွင် အလ္လာဟ်အရှင်မြတ် သတ်မှတ်ထားတော်မူသည့် လမ်းစဉ်ကို အတိအကျလိုက်နာကျင့်သုံးရပေမည်။ မည်သူတရားရသည်၊ မည်သူတရားမရသည်ကို ကြည့်နေရန် မလိုပေ။ မိမိ၏တာဝန်ကို မိမိကျေပွန်ရမည်။ တာဝန်ကျေပွန်ပြီးသည့်နောက် အလ္လာဟ်အရှင်မြတ်အား လွှဲအပ်ရန်သာရှိသည်။ တရားရသူတရားမရသူများ၏ အခြေအနေ အဖြစ်အပျက်အားလုံးကို ထိုအရှင်မြတ်သည် အသိဆုံးပင် ဖြစ်တော်မူပေရာ လျော်ကန်သလို စီရင်တော်မူပေမည်။

وَإِنْ عَاقَبْتُمْ فَعَاقِبُوا بِمِثْلِ مَا عُوقِبْتُم بِهِۦ ۖ وَلَئِن صَبَرْتُمْ لَهُوَ خَيْرٌ لِّلصَّٰبِرِينَ ﴿١٢٦﴾

၁၂၆။ ၎င်းပြင် အကယ်၍ အသင်တို့သည် တုံ့ပြန် လက်စားချေလိုခဲ့ကြသည်ရှိသော် မိမိတို့ ဒုက္ခပေးခြင်း ခံကြရသည်နှင့် *ညီတူညီမျှပင် တုံ့ပြန်လက်စားချေကြလေကုန်။* [၁] သို့ရာတွင် အကယ်၍ အသင်တို့သည် သည်းခံခဲ့ကြပင်လျှင် ဧကန်မလွဲ ယင်းသည်းခံမှုသည် ခန္တီတရားထားရှိကြသူတို့အဖို့ အကောင်းဆုံးပါတည်း။

وَاصْبِرْ وَمَا صَبْرُكَ إِلَّا بِاللَّهِ ۚ وَلَا تَحْزَنْ عَلَيْهِمْ وَلَا تَكُ فِي ضَيْقٍ مِّمَّا يَمْكُرُونَ ﴿١٢٧﴾

၁၂၇။ သို့ရာတွင် (အို-နဗီတမန်တော်) အသင်သည် သည်းခံ(မြဲ သည်းခံလျက်ပင်) ရှိပါလေ။ စင်စစ် အသင်၏သည်းခံမှုသည် *အလ္လာဟ်အရှင်မြတ်၏ အကူအညီကြောင့်ပင် ဖြစ်ပေသည်။* [၂] ထို့ပြင် အသင်သည် ၎င်းတို့အတွက် ပူဆွေးခြင်း မရှိပါလေနှင့်။ ထိုမှတပါး အသင်သည် ၎င်းတို့၏ လျှို့ဝှက်ကြံစည်မှုများကြောင့် စိတ်ဆင်းရဲခြင်းလည်း မရှိပါလေနှင့်။

---

(၁) တရားစမ္မဟောကြားရာတွင် အနှောင့်အယှက် အမျိုးမျိုး တွေ့ရပေမည်။ မတရားကျူးကျော် စော်ကားခြင်း အမျိုးမျိုးကိုလည်း ခံကြရပေသည်။ ထို့နောက် အနိုပ်အစက်ခံများသည် နှိပ်စက်သူတို့အား အရေးသာကြသည့်အခါ လူ့သဘာဝအလျောက် တုံ့ပြန် လက်စားချေလိုကြပေသည်။ တုံ့ပြန်ပိုင်ခွင့်လည်း ရှိပေသည်။ တုံ့ပြန်ခြင်းမှာလည်း တရားပေသည်။

ထို့အတွက်လည်း အစ္စလာမ်က တရားသဖြင့် တုံ့ပြန်နိုင်ခွင့် ပြုထားခြင်းဖြစ်သည်။ သို့ရာတွင် အနိုပ်စက်ခံများသည် မိမိတို့အား နှိပ်စက်ခဲ့သူများကို ပြန်လည် တုံ့ပြန် လက်စားချေကြသည့်အခါ များသောအားဖြင့် စည်းကမ်းလွန်တတ်ကြပေသည်။ ထိုအခါ ပထမနှိပ်စက်သူသည် အနိုပ်စက်ခံဖြစ်၍ အနိုပ်စက်ခံသည် နှိပ်စက်သူ ဖြစ်သွားတတ်ပေသည်။ တရားလိုသည် တရားခံ ဖြစ်သွားတတ်ပေသည်။

ထို့အတွက် အစ္စလာမ်သာသနာက အနိုပ်စက်ခံများသည် မိမိတို့ အနိုပ်စက်ခံခဲ့ကြရသည်နှင့် အမျှသာ လက်စားချေနိုင်ခွင့် ပြုထားသည်။ ထို့ထက်ပို၍ လက်စာချေရန်ကား အလျှင်းခွင့်မပြုချေ။

ထိုမျှမက မိမိတို့အား မတရားကျူးကျော်စော်ကားသူများကို တုံ့ပြန်လက်စားချေနိုင်သော်လည်း လက်စားမချေဘဲ ခွင့်လွှတ်ခြင်းသည် နှစ်ဦးနှစ်ဖက်အတွက်သာမက အားလုံးအတွက်ကောင်းသည်ဟူ၍ပင် တိုက်တွန်းထားပေသည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၇း ၁၉၉၊ ၃း ၁၃၃) တွင်လည်း မိန့်ဆိုထားတော်မူသည်။

(၂) ဒုက္ခဆင်းရဲမှု၊ ကျူးကျော်စော်ကားမှု၊ နှိပ်စက်ညှဉ်းပန်းမှုများအပေါ်၌ သည်းခံခြင်း၊ ရပ်တည်နေခြင်းသည် လွယ်ကူသော ကိစ္စမဟုတ်ပေ။ အလ္လာဟ်အရှင်မြတ်၏ ကူညီထောက်မမှု၊ ကာကွယ်ထိန်းသိမ်းမှုကို ရရှိသောသူများလျှင် ရပ်တည်နိုင်ကြပေသည်၊ သည်းခံနိုင်ကြပေသည်၊ ကြံ့ခိုင်နိုင်ကြပေသည်။

إِنَّ اللَّهَ مَعَ الَّذِينَ اتَّقَوا وَّالَّذِينَ هُم مُّحْسِنُونَ ﴿١٢٨﴾

၁၂၈။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် (ပြစ်မှုဒုစရိုက်များမှ) ကြဉ်ရှောင်ကြကုန်သော သူတို့နှင့်အတူလည်းကောင်း၊ ကောင်းမြတ်သော အကျင့်သီလကို ကျင့်မူကြကုန်သောသူတို့နှင့်အတူလည်းကောင်း၊ ရှိတော်မူပေသတည်း။[၁]

(၁) လူသားတို့သည် "တာကွာဝါ" တရားကို လက်ကိုင်ထားသည်နှင့်အမျှ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညား၍ ထိုအရှင်မြတ်၏ အမိန့်တော်များကို လိုက်နာကျင့်သုံးသည်နှင့်အမျှ လူသားတို့အား ကောင်းကျိုးပြုသည်နှင့်အမျှ အလ္လာဟ်အရှင်မြတ်၏ အကူအညီ အထောက်အမကို ရရှိကြပေသည်။ မွတ္တကီများသည် နောက်ဆုံးတွင် အောင်မြင်ကြသည်သာ ဖြစ်သည်။ သာသနာ့ ရန်သူများ၏ အကြံအစည် အနှောင့်အယှက်များကြောင့် စိတ်ဆင်းရဲရန် မလိုပေ။ အလ္လာဟ်အရှင်မြတ်သည် မွတ္တကီတို့၏ အရေးအခင်းများကို လွယ်ကူစေတော်မူ၍ အခက်အခဲများမှ လွတ်မြောက်စေတော်မူသည်။ ထို့ပြင်တဝ ၎င်းတို့အား မမျှော်မှန်းမိသည့်နေရာမှာပင် သုခချမ်းသာ အဖြာဖြာတို့ကို ချီးမြှင့်တော်မူသည်။
ကြည့် - ကုရ်အာန် (၆၅ ː ၂၊ ၄၊ ၅။ ၂၄ː ၅၂။ ၂ː ၁၉၄။ ၃ː ၇၈။ ၃ː ၁၁၅။ ၇ː ၁၂၈။ ၉ː ၄၊ ၇၊ ၃၆၊ ၄၄၊ ၁၂၃။ ၁၁ː ၄၉။ ၂၈ː ၈၃။ ၃၈ː ၄၉။ ၄၃ː ၃၅။ ၄၄ː ၅၁။ ၄၅ː ၁၉။ ၇၈ː ၃၁)။

# အိစ်ရာအီလီမျိုးနွယ်ကဏ္ဍ



ဤကဏ္ဍသည် 'စူရဟ်ဗနီအိစ်ရာအီလ်'- အိစ်ရာအီလီမျိုးနွယ်အကြောင်းပါရှိသော ကဏ္ဍမည်၏။ မက္ကာမြို့၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၁၁၁) နှင့် ရကုအ်အပိုဒ် (၁၂) အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အစဉ်မပြတ် သနားကြင်နာညှာတာတော်မူထသော အနန္တကရုဏာရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် (အစပြုပါ၏)။

سُبْحٰنَ الَّذِيْٓ اَسْرٰى بِعَبْدِهٖ لَيْلًا مِّنَ الْمَسْجِدِ الْحَرَامِ اِلَى الْمَسْجِدِ الْاَقْصَا الَّذِيْ بٰرَكْنَا حَوْلَهٗ لِنُرِيَهٗ مِنْ اٰيٰتِنَا ۭ اِنَّهٗ هُوَ السَّمِيْعُ الْبَصِيْرُ ①

၁။ အကြင်အရှင်မြတ်သည် သန့်ရှင်းစင်ကြယ်တော်မူ၏။ ထိုအရှင်မြတ်သည် တစ်ညဉ့်၌ မိမိကျွန် (နဗီတမန်တော်မုဟမ္မဒ်)အား "မတ်စ်ဂျစ်ဒ်ဒေဟရာမ်" ထူးမြတ်သော ဗလီဝတ်ကျောင်းတော်မှ ထိုကျွန် (နဗီတမန်တော် မုဟမ္မဒ်)အား မိမိ၏ အချို့သက်သေလက္ခဏာတော်များကို ပြသတော်မူအံ့သောငှာ အကြင် *"မတ်စ်ဂျစ်ဒ်ဒေအတ်က်ဆွာ"*[၁] (အလွန်ဝေးလံလှသော) ဗလီဝတ်ကျောင်းတော်သို့ ခေါ်ဆောင်၍ သွားခဲ့တော်မူ၏။ [၂] ငါအရှင်မြတ်သည် ထိုဗလီဝတ်ကျောင်းတော်၏ပတ်ဝန်းကျင်ကို ဗရ်ကတ်သုခ ချမ်းသာမင်္ဂလာနှင့် ပြည့်စေတော်မူခဲ့၏။ ဧကန်မလွဲ ထိုအရှင်မြတ်သည်ပင် လျှင် အကြွင်းမဲ့ကြားတော်မူသောအရှင်၊ အကြွင်းမဲ့ ခွဲခြားသိမြင်တော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

---

(၁) **မင်္ဂလာရှိသော ဆီးရီးယားပြည်**

"မတ်စ်ဂျစ်ဒ်ဒေ-အတ်က်ဆွာ" သည် ဖိုင်တုလ်မုကဒ်ဒတ်စ်၌ တည်ရှိသည်၊ အလ္လာဟ်အရှင်မြတ်သည် မတ်စ်ဂျစ်ဒ်ဒေအတ်က်ဆွာ၏ပတ်ဝန်းကျင်၌ (ဝါ-ဆီးရီးယားပြည်၌) အရွှတ္တ၊ ဗာဟိရ အတွင်းအပြင်၊ မင်္ဂလာအဖြာဖြာ ဖြစ်စေထားတော်မူ၏။ ထိုတိုင်းပြည်တွင် အင်းအိုင်ချောင်းမြောင်းများရှိ၏။ စိမ်းစိုသာယာသော ဥယျာဉ် ပန်းမာလ်များရှိသည်၊ သစ်သီးဝလံပေါများသည်။ တိုင်းပြည်သာယာသည်၊ ကြည်နူးဖွယ်ကောင်းလှသည်။ ဤသည် ဗာဟိရမင်္ဂလာဖြစ်သည်။



➢➢ ထိုတိုင်းပြည်တွင် နဗီတမန်တော် အမြောက်အများပွင့်ခဲ့ကြသည်။ သူတော်စင် အမြောက်အများ ထွန်းကားခဲ့ကြသည်။ ထိုတိုင်းပြည်တွင် တမန်တော်များနှင့် သူတော်စင်များ၏သင်္ချိုင်းအမြောက်အများ ရှိသည်။ မတ်စ်ဂျစ်ဒ်ဒွေအတ်က်ဆွာသည် နှစ်ပေါင်းမြောက်မြားစွာအထိ 'ကစ်ဗ်လဟ်' အဖြစ်နှင့်တည်ရှိခဲ့သည်။ ဤသည် အဇ္ဈတ္တမင်္ဂလာဖြစ်သည်။

ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ်(၇း၁၃၇)၏အဖွင့်တွင်လည်း ရေးသားခဲ့ပေပြီ။

တမန်တော်မြတ်အား ဗိုင်တုလ်မုကဒ်ဒတ်စ်သို့ ခေါ်ဆောင်သွားတော်မူခဲ့ခြင်းမှာ အိစ်ရာအီလီမျိုးနွယ်နှင့် အခြားမျိုးနွယ်များထံသို့ စေလွှတ်တော်မူခြင်း ခံခဲ့ကြရကုန်သော တမန်တော်အပေါင်းတို့အား ချီးမြှင့်တော်မူသည့် ဂုဏ်အင်ဒြပ်များကို တမန်တော်မြတ်အား စုပေါင်း၍ ချီးမြှင့်တော်မူရန်နှင့် အိစ်ရာအီလီမျိုးနွယ်တို့အား ချီးမြှင့်တော်မူခဲ့သော ကျေးဇူးတော်များကို အိစ်မာအီလီမျိုးနွယ်တို့အား ပြောင်းလဲ ချီးမြှင့်တော်မူရန်အတွက် ဖြစ်သည်ကို ရည်ညွှန်းတော်မူခြင်းပင်ဖြစ်သည်။

ဆိုလိုသည်ကား ဗိုင်တုလ်မုကဒ်ဒတ်စ်နှင့် ကအ်ဗဟ်ကျောင်းတော်၏ မင်္ဂလာအဖြာဖြာကို တမန်တော်မြတ်၏ တပည့်နောက်လိုက်များက ဆက်ခံကြရတော့မည် ဖြစ်သည်။

ဟဒီးဆ်ကျမ်းကြီးများတွင်လာရှိသည်မှာ မစ်အ်ရာဂ်ျညဉ့်တွင် တမန်တော်မြတ် မတ်စ်ဂျစ်ဒ်ဒွေအတ်က်ဆွာသို့ ကြွရောက်လာတော်မူသည့်အခါ တမန်တော်မြတ်သည် 'အေမာမ်' ရှေ့ဆောင်အဖြစ် ဆွလာတ်ဝတ်ပြုတော်မူ၍ တမန်တော်အပေါင်းတို့သည် တမန်တော်မြတ်၏နောက်တွင် "မုက်တဒီ" နောက်လိုက်အဖြစ် ဆွလာတ်ဝတ်ပြုခဲ့ကြလေသည်။ ဤသည်တစ်နည်းအားဖြင့် တမန်တော်မြတ်သည် တမန်တော်အပေါင်းတို့၏ အကြီးအကဲ ဖြစ်တော်မူကြောင်း ထင်ရှားပြတော်မူခြင်းပင် ဖြစ်သည်။

## ⓶ 'မစ်အ်ရာဂ်ျ'။

အလ္လာဟ်အရှင်မြတ်သည် မိမိ၏အရင်းနီးဆုံးသော အစေတော်၊ တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား မိမိအနန္တတန်ခိုးတော်၏ အချို့သက်သေ လက္ခဏာတော်များနှင့် စီမံဖန်တီးထားတော်မူပုံများကို ပြသတော်မူရန်အလို့ငှာ ညဉ့်တစ်ချိန်တွင် "မတ်စ်ဂျစ်ဒ်ဒွေဟရာမ်"မှ "မတ်စ်ဂျစ်ဒ်ဒေအတ်က်ဆွာ" အထိ ခေါ်ဆောင်သွားတော်မူခဲ့လေသည်။ ကုရ်အာန်ကျမ်းမြတ် (၅၃း၁၄-၁၈)တွင် တမန်တော်မြတ်သည် "စစ်ဒ်ရတုလ် မွန်တဟာ" အထိ ရောက်ရှိသွားတော်မူခဲ့သည့်အကြောင်း ပါရှိလေသည်။

အာလင်မ်ပညာရှင်များသည်မက္ကာမြို့မှ ဗိုင်တုလ်မုကဒ်ဒတ်စ်အထိ တမန်တော်မြတ်၏ အဆိုပါခရီးကို "အစ္စရာ"ဟူ၍လည်းကောင်း၊ ဗိုင်တုလ်မုကဒ်ဒတ်စ်မှ စစ်ဒ်ရတုလ်မွန်တဟာ အထိ ခရီးကို "မစ်အ်ရာဂ်ျ" ဟူ၍လည်းကောင်း၊ ခေါ်ဝေါ်သုံးနှုန်းကြသည်။ ယခုအခါ ယေဘုယျအားဖြင့် အစ္စရာနှင့် မစ်အ်ရာဂ်ျ ၂-ခုစလုံးကိုလည်း အစ္စရာဟူ၍လည်းကောင်း၊ မစ်အ်ရာဂ်ျဟူ၍လည်းကောင်း သုံးနှုန်းကြပေသည်။

မစ်အ်ရာဂ်ျနှင့် စပ်လျဉ်း၍ ဆွဟာဗဟ် သာဝကကြီးအပါး(၃၀)ခန့်တို့ထံမှ အကျယ်တဝင့် အသေးစိတ် သိရှိရပေသည်။ ရှေးနှောင်းခေတ်များရှိ အာလင်မ်ပညာရှင်အားလုံးတို့၏ ယူဆချက်အရ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် နိုးကြားနေတော်မူသည့်အချိန်တွင် မိမိ၏ကိုယ်ခန္ဓာနှင့် တကွ မစ်အ်ရာဂ်ျ ကြွသွားတော်မူခဲ့သည်ဟူ၏။ သာဝက ၂-ပါး၊ ၃-ပါးနှင့် အချို့တာဗေအီတစ်စု၏ယူဆချက်အရ တမန်တော်မြတ်၏ မစ်အ်ရာဂ်ျသည် တမန်တော်အိပ်ပျော်နေစဉ်၊ အိပ်မက်တွင် အလ္လာဟ်အရှင်မြတ်က အံ့မဆုံးသည့်အရာများကို မြင်မက်စေတော်မူခြင်းပင် ဖြစ်သည်ဟူ၏။

အသို့ပင်ဖြစ်စေကာမူ ကုရ်အာန်ကျမ်းမြတ်တွင် မစ်အ်ရာဂ်ျ၏ အကြောင်းကို မိန့်ကြားတော်မူရာ၌ ➢➢

➤➤ လေးနက်စွာ စကားပလ္လင်ခံထားတော်မူသည်ကိုလည်းကောင်း၊ အစ္စလာမ်၏ ရန်သူများသည် မစ်အ်ရာဂျ်နှင့် စပ်လျဉ်း၍ အထူးတလည် ငြင်းဆန်လာခဲ့ကြသည်ကိုလည်းကောင်း။ အီမာန်နုနယ်သော အချို့မွတ်စ်လင်မ်များသည်ပင် ဇဝေဇဝါ ဖြစ်လာခဲ့ကြသည်ကိုလည်းကောင်း ထောက်ရှုပါက မစ်အ်ရာ၍သည် အိပ်မက်မျှသာ မဟုတ်ကြောင်း၊ ရုပ်မပါ နာမ်ခရီးမျှသာ မဟုတ်ကြောင်းကို ကောင်းစွာသိရှိနိုင်ပေသည်။ အချို့သူများ ယူဆသကဲ့သို့ မစ်အ်ရာဂျ်သည် အိပ်မက်မျှသာဖြစ်သော် ဤမျှဂရုက်ရိုက်ရန် အကြောင်းအလျှင်းမရှိပေ။

အချို့မှန်ကန်သော 'ရိဝါယတ်' ကျမ်းချက်များတွင် –

(ثم اَصبحتُ بمكة ثم اثبت مكة) "ထို့နောက် ကျွန်ုပ်သည် နံနက်ချိန်တွင် မက္ကာမြို့သို့ ပြန်လည်ရောက်ရှိလာခဲ့သည်"ဟူ၍ လာရှိ၏။ အကယ်၍ မစ်အ်ရာဂျ်သည် အိပ်မက်မျှသာ ဖြစ်သော်၊ တမန်တော်မြတ်သည် မက္ကာမြို့မှ ပျောက်ကွယ်နေတော်မူရန် အကြောင်းမရှိပေ။ ထို့ပြင်တစ်ဝ ရှဒ်ဒါဒ်အီဗ်နအောက်စ်နှင့် အချို့ပုဂ္ဂိုလ်များ၏ ရိဝါယတ်တွင် "အချို့ဆွဟာဗဟ်သာဝကြီးများသည် ထိုညဉ့်တွင် တမန်တော်မြတ်၏နေအိမ်သို့ သွားရောက်ရာကြသည်။ တမန်တော်မြတ် အဘယ်သို့ ကြွသွားတော်မူပါလဲ" ဟူ၍ စုံစမ်း မေးမြန်းခဲ့သည့်အကြောင်း ပါရှိပေသည်။ မစ်အ်ရာဂျ်သည် အိမ်မက်မျှသာ ဖြစ်ပါက၊ သာဝကကြီးများက ဤသို့စုံစမ်းမေးမြန်းရန် အကြောင်းပင် ပေါ်ခဲ့မည် မဟုတ်ပေ။

ကုရ်အာန်ကျမ်းမြတ် (၁၇း၆၀)တွင်ပါရှိသည့် (رؤيا) "ရုအ်ယာ"ဟူသော ဆောင်ပုဒ်နှင့် စပ်လျဉ်း၍ သာဝကကြီး အီဗ်နအဗ္ဗားစ်သခင်က (رؤيا عين اُرِيَهَا رسول اللهِ صلى الله عليه وسلم) "တမန်တော်မြတ် မျက်ဝါးထင်ထင် ပြသတော်မူခြင်းခံရခြင်း" ဟူ၍အနက်ဖွင့်ခဲ့သည်။ "ရုအ်ယာ" ဟူသည် တစ်ခါတစ်ရံ အိပ်မက်၏အနက်၌ အသုံးပြုသည်။ တစ်ခါတစ်ရံ သက်သက်မြင်ခြင်းအနက်၌ အသုံးပြုသည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ မုဖတ်စ်စစ်ရ်များသည် အရဗီစာပေမှ မြောက်များစွာသော အထောက်အထားများကိုလည်း တင်ပြကြသည်။ သို့ဖြစ်ရာ ကုရ်အာန်(၁၇း၆၀)တွင် ပါရှိသည့် "ရုအ်အာ" ဟူသောပုဒ်သည် ဤမစ်အ်ရာဂျ်ကိုပင် ရည်ညွှန်းသည်ဆိုပါက ယင်းပုဒ်ကို မြင်ခြင်းအနက်၌ ယူလိုက်ပါလျှင် ပြဿနာပေါ်စရာ အကြောင်းလည်း မရှိတော့ပေ။ အဆိုအားလုံးလည်း ကိုက်ညီသွားပေမည်။

မစ်အ်ရာဂျ်နှင့်စပ်လျဉ်း၍ အတိတ်ခေတ်များတွင် အချို့အတွေးခေါင်သူများက အမျိုးမျိုး စောဒနာတက်ခဲ့ကြသည်။ ယခုခေတ်သည် ဂြိုလ်တုခေတ်ဖြစ်သည်။ လူသားများကိုယ်တိုင် ဂြိုလ်တုစီး၍ ကမ္ဘာကိုပတ်လျက်ရှိချေပြီ။ အလ္လာဟ်အရှင်မြတ်သည် တန်ခိုးတော်အနန္တ ဉာဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူသည်။ နေ၊ လ စသည့်ကမ္ဘာဂြိုလ်အပေါင်း စကြာဝဠာကြီးတစ်ခုလုံးသည်ပင် ထိုအရှင်မြတ် ပြုစုစီရင်ထားတော်မူသည့်အတိုင်း တစ်သွေမတိမ်း သွားလာလှုပ်ရှားလျက်ရှိပေသည်။

ယခုလူသားတို့ ဂြိုလ်တုဖြင့် ကမ္ဘာပတ်ခြင်းမှာလည်း အလ္လာဟ်အရှင်မြတ် ဖန်ဆင်းထားတော်မူသော လူသားက ထိုအရှင်မြတ် ချီးမြှင့်ထားတော်မူသောဉာဏ်ဖြင့် ထိုအရှင်မြတ်ဖန်ဆင်းထားတော်မူသော ဓာတ်ပစ္စည်းများကို အသုံးပြုခြင်းသာလျှင်ဖြစ်ပေသည်။ သို့ဖြစ်ပေရာ တမန်တော်မြတ်အား မိုးကောင်းကင်အထပ်ထပ်သို့ ခေါ်ဆောင်တော်မူ၍ မိမိ၏အချို့သက်သေလက္ခဏာတော်များကို ပြသတော်မူခြင်းမှာ အလ္လာဟ်အရှင်မြတ်အဖို့ အသို့လျှင် မဖြစ်နိုင်အံ့နည်း၊ အမှန်မှာ မစ်အ်ရာဂျ်သည် ဖြစ်နိုင်မဖြစ်နိုင်ဟု စဉ်းစားနေရမည့် ပြဿနာပင်မဟုတ်ပေ။

**ထာနဝီသခင်၏အဖွင့်**

'အဟ်လေ့စွန္နတ်' ဝါလ်ဂျမာအတ်၏ ယူဆချက်အရ 'မစ်အ်ရာဂျ်' သည် နိုးကြားနေသည့် အချိန်တွင် ကိုယ်ခန္ဓာနှင့်တကွဖြစ်ခဲ့ပေသည်၊ ဤအတိုင်း အာလင်မ်ပညာရှင်အားလုံးတို့က 'အစ်ဂျ်မာအ်' ပြုလုပ်ခဲ့ကြသည်၊ ➤➤

وَاٰتَيْنَا مُوْسَى الْكِتٰبَ وَجَعَلْنٰهُ هُدًى لِّبَنِیْٓ اِسْرَآءِيْلَ اَلَّا تَتَّخِذُوْا مِنْ دُوْنِیْ وَكِيْلًا ﴿٢﴾

၂။ စင်စစ် ငါအရှင်မြတ်သည် (နဗီတမန်တော်) မူစာအား ကျမ်းဂန်ဒေသနာတော်ကို ချီးမြှင့်ပေးသနားတော်မူခဲ့လေသည်။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ယင်းကျမ်းဂန်ဒေသနာတော်ကို အီစ်ရာအီလီ မျိုးနွယ်အဖို့ "အသင်တို့သည် ငါအရှင်မြတ်မှတပါး အခြားမည်သည့် တစ်စုံတရာကိုမျှ အားကိုးအားထားရာ မပြုလုပ်ကြကုန်လင့်" ဟူ၍ တရားလမ်းညွှန်ပြတော်မူခဲ့လေသည်။ [၁]

---

➤➤ တညီတညွတ်တည်း အဆုံးအဖြတ်ပေးခဲ့ကြသည်။

**မှတ်ချက်။**

ဤအာယတ်တော်တွင် ပါရှိသည့် "အလ္လာဟ်အရှင်မြတ်၏ ကျွန်" ဟူသည် တမန်တော်မြတ်မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ရည်ညွှန်းသည်။ ဤတွင် အဆိုကွဲပြားမှု အလျှင်းမရှိ။ မစ်အ်ရာဂျ်သည် တမန်တော်မြတ်အဖို့ အကြီးဆုံးသော ဂုဏ်၊ အမြင့်မြတ်ဆုံးသော ဆုလာဘ်ကြီး တစ်ခုဖြစ်သည်။ တမန်တော်မြတ်အား အကြီးဆုံးသောဂုဏ်၊ အမြင့်မြတ်ဆုံးသော ဆုလာဘ် ကို ချီးမြှင့်တော်မူသည့်အချိန်တွင် တမန်တော်မြတ်အား "အလ္လာဟ်အရှင်မြတ်၏(အဗ်ဒ်) ကျွန်" ဟူ၍ အထူးတလည်သုံးနှုန်းထားတော်မူခြင်းမှာ (၁) တမန်တော်မြတ်အား အလ္လာဟ်အရှင်မြတ် အထူးတလည် နှစ်သက်တော်မူကြောင်း ထင်ရှားစေရန်နှင့် (၂) ယင်းမစ်အ်ရာဂျ်ကြောင့် တမန်တော်မြတ်အား ကိုးကွယ်ရာဘုရားဟူ၍ မထင်မှတ်စေရန်အတွက်ပင်ဖြစ်သည်။ ထာနဝီ။

အလ္လာဟ်အရှင်မြတ်၏ ကျွန်များအဖို့ အလ္လာဟ်အရှင်မြတ်၏ ကျွန်ဖြစ်မှုသည်အကြီးဆုံးနှင့် အမြင့်မြတ်ဆုံးသော ဂုဏ်ပင်ဖြစ်သည်။ မစ်အ်ရာဂျ် အကြောင်းနှင့်စပ်လျဉ်း၍ အကျယ်ကိုသိလိုပါက သက်ဆိုင်ရာ ဟဒီစ်ကျမ်းကြီးများတွင် ရှုပါကုန်။

(၁) အထက်တွင်တမန်တော်မြတ်၏ မစ်အ်ရာဂျ်နှင့် တမန်တော်မြတ်၏ ထူးကဲမြင့်မြတ်မှုများကို မိန့်ဆိုထားတော်မူ၏။ ယခုဤအာယတ်တော်တွင် တမန်တော် မူစာ၏အကြောင်းကို မိန့်ဆိုထားတော်မူ၏။ အဘယ့်ကြောင့်ဆိုသော် မစ်အ်ရာဂျ်တွင် မတ်စ်ဂျစ်ဒ်ဒေအတ်က်ဆွာအထိ ကြွသွားတော်မူခဲ့သည့်အကြောင်းပါရှိ၏။ ရှေ့တွင် မတ်စ်ဂျစ်ဒ်ဒေအတ်က်ဆွာ၏ ရှေးယခင်မုတဝလ္လီများဖြစ်ခဲ့ကြသော အီစ်ရာအီလီမျိုးနွယ်တို့၏ အတိတ်ဖြစ်စဉ်များကို မိန့်ဆိုထားတော်မူသည်။ ၎င်းတို့၏ဖြစ်စဉ်များမှ မွတ်စ်လင်မ်များလည်း သင်ခန်းစာယူနိုင်ကြပေသည်။ အီစ်ရာအီလီမျိုးနွယ်ဝင်များသည်လည်း သင်ခန်းစာယူနိုင်ကြပေသည်။ ဤအာယတ်တော်သည် ထိုသည့်ဖြစ်စဉ်များ၏ ပဏ္ဏာမပင်ဖြစ်ချေသည်။

မစ်အ်ရာဂျ်တွင် အီစ်ရာအီလီမျိုးနွယ်များရရှိထားခဲ့ကြသည့်ရှေ့ဆောင်မှုကို မက္ကာမြို့တော်သား တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ဆက်ခံတော်မူမည့်အကြောင်း ရည်ညွှန်းထားတော်မူသည်။ သို့ဖြစ်ရာ အီစ်ရာအီလီမျိုးနွယ်ဝင်များသည် သုခချမ်းသာကိုလိုလားကြလျှင် တမန်တော်မြတ်၏အမိန့်ဩဝါဒများကို နာခံကြရမည်သာဖြစ်သည်။ သို့မဟုတ်ပါမူ ရှေးယခင်ကကဲ့သို့ပင် ပြစ်ဒဏ်ကြီးငယ်များကို ခံကြရမည်သာဖြစ်သည်။

၃။ အို-အကြင်သူတို့၏ သားမြေးအပေါင်းတို့၊ ငါအရှင်မြတ်သည် ထိုသူတို့အား (နဗီတမန်တော်)နူဟ်နှင့်အတူ (သင်္ဘောပေါ်သို့) တင်ဆောင်တော်မူခဲ့လေသည်။ (အသင်တို့သည် အလ္လာဟ်အရှင်မြတ်တစ်ဆူတည်းဖြစ်တော်မူကြောင်းကို သက်ဝင်ယုံကြည်ကြလေကုန်။ မလွဲဧကန် ထို(နဗီတမန်တော်)နူဟ်သည် ကျေးဇူးတော်ကို အလွန်သိတတ်သော ကျွန်တစ်ပါးဖြစ်ခဲ့ပေသတည်း။ [1]

ذُرِّيَّةَ مَنْ حَمَلْنَا مَعَ نُوحٍ ۚ إِنَّهُ كَانَ عَبْدًا شَكُورًا ③

၄။ စင်စစ်သော်ကား ငါအရှင်မြတ်သည် အီစ်ရာအီလီမျိုးနွယ်တို့ထံ (ထောင်ရာတ်) ကျမ်းတော်၌ (ဤသို့)စီရင်ပြဋ္ဌာန်း(ချက်ကို ပေးပို့)တော်မူခဲ့လေသည်။ (အို-အီစ်ရာအီလီမျိုးနွယ်တို့၊) မုချစင်စစ် အသင်တို့သည် တိုင်းပြည်တွင် နှစ်ကြိမ်တိုင်တိုင် ပျက်စီးရာပျက်စီးကြောင်းကို ပြုလုပ်ကြပေမည်။ ထိုမှတပါး ဧကန်မလွဲ အသင်တို့သည် အကြီးအကျယ် ရက်စက်စွာ အုပ်စိုးမှုဖြင့်လည်း အုပ်စိုးကြပေမည်။

وَقَضَيْنَآ إِلَىٰ بَنِىٓ إِسْرَٰٓءِيلَ فِى ٱلْكِتَٰبِ لَتُفْسِدُنَّ فِى ٱلْأَرْضِ مَرَّتَيْنِ وَلَتَعْلُنَّ عُلُوًّا كَبِيرًا ④

---

(၁) ဆိုလိုသည်ကား အို-အီစ်ရာအီလီမျိုးနွယ်ဝင်အပေါင်းတို့၊ အသင်တို့သည် အကြင်ဘိုးဘေးတို့၏ သားသမီးများဖြစ်ကြပေသည်။ ယင်းဘိုးဘေးများသည် တမန်တော်နူဟ်(အလိုင်ဟစ္စလာမ်)နှင့် အတူတကွ သင်္ဘောပေါ်တွင် လိုက်ပါစီးနင်း၍ အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်တော်မှ လွတ်မြောက်ခဲ့ကြပေသည်။ ဤသည်အသင်တို့၏ ဘိုးဘေးတို့အပေါ်၌ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင်ဖြစ်သည်။ ဤသည့်ကျေးဇူးတော်ကို အသင်တို့ မမေ့အပ်ကြပေ။ သို့ဖြစ်ရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်တစ်ပါးတည်းကိုသာလျှင် ခဝပ်ကိုးကွယ်ကြရမည်။ ထိုအရှင်မြတ်နှင့်တွဲဖက်၍ မည်သည့်အရာကိုမျှ မကိုးကွယ်ကြရ။ အစစအရာရာတွင် ထိုအရှင်မြတ်အားသာလျှင် ယုံပုံလွှဲအပ်ကြရမည်။

တမန်တော်နူဟ်(အလိုင်ဟစ္စလာမ်)သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို အလွန်သိတတ်ပေသည်။ အမိန့်တော်များကိုလည်း တစ်သွေမတိမ်း လိုက်နာပေသည်။ အသင်တို့သည်အခြားမဟုတ်၊ ထိုတမန်တော်နူဟ်၏အဆက်အနွယ်များပင် ဖြစ်ကြပေသည်။ သို့ဖြစ်ရာ အသင်တို့သည်လည်း တမန်တော်နူဟ်၏ အဆက်အနွယ်ပီပီ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကိုသိကြရမည်၊ ထိုအရှင်မြတ်၏ အမိန့်တော်များကို တစ်သွေမတိမ်း လိုက်နာကြရပေမည်။ တမန်တော်နူဟ်(အလိုင်ဟစ္စလာမ်)၏ အကြောင်းကို ကုရ်အာန်(၄း၁၆၃၊ ၇း၅၉၊ ၉း၇၀၊ ၁၀း၇၁၊ ၁၁း၃၂၊ ၃၆၊ ၄၂၊ ၄၅၊ ၄၆၊ ၄၈၊ ၈၉။၁၄း၉) ၏အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။

فَإِذَا جَآءَ وَعْدُ أُولَىٰهُمَا بَعَثْنَا عَلَيْكُمْ عِبَادًا لَّنَآ أُو۟لِى بَأْسٍ شَدِيدٍ فَجَاسُوا۟ خِلَـٰلَ ٱلدِّيَارِ ۚ وَكَانَ وَعْدًا مَّفْعُولًا ۝٥

၅။ တစ်ဖန် ထိုနှစ်ကြိမ်အနက် ပထမအကြိမ် (ပျက်စီးရာပျက်စီးကြောင်းကို အသင်တို့ ပြုလုပ်ခဲ့ကြသည့်)အတွက် ချိန်းချက်ထားသော ပြစ်ဒဏ်(ကျရောက် ရန်အချိန်)သည် ဆိုက်ရောက်လာသောအခါ ငါအရှင်မြတ်သည် အလွန်အမင်း တိုက်ခိုက်ကြသော မိမိကျွန်များကို အသင်တို့အပေါ်ဝယ် နိုင်လိုမင်းထက် ပြုမူစေတော်မူပေမည်။ ထိုအခါငင်းတို့သည် (အသင်တို့အား ဖျက်ဆီးသတ်ဖြတ်ကြရန် အသင်တို့၏) နေအိမ်များအတွင်းသို့ ဝင်ရောက်ကြပေမည်။ စင်စစ်သော်ကား (ငါအရှင်မြတ်၏ ဤချိန်းချက်မှုသည် မုချ) ပြီးမြောက်အောင်မြင်မည့် ချိန်းချက်မှုပင် ဖြစ်ပေသတည်း။

ثُمَّ رَدَدْنَا لَكُمُ ٱلْكَرَّةَ عَلَيْهِمْ وَأَمْدَدْنَـٰكُم بِأَمْوَٰلٍ وَبَنِينَ وَجَعَلْنَـٰكُمْ أَكْثَرَ نَفِيرًا ۝٦

၆။ ထို့နောက် ငါအရှင်မြတ်သည် အသင်တို့အား ၎င်းတို့အပေါ်၌ (လွှမ်းမိုးရန်) အလှည့်ပြန်ပေးတော်မူမည်။ ထို့ပြင် ငါအရှင်မြတ်သည် အသင်တို့အား ပစ္စည်းဥစ္စာများဖြင့်လည်းကောင်း၊ သား(သမီး)များဖြင့်လည်းကောင်း၊ ကူညီစောင်မတော်မူမည်။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် အသင်တို့အား လူစုလူရုံးအားဖြင့်လည်း (လူဦးရေ)မြားမြောင်သော လူစုလူရုံး ဖြစ်စေတော်မူပေမည်။

إِنْ أَحْسَنتُمْ أَحْسَنتُمْ لِأَنفُسِكُمْ ۖ وَإِنْ أَسَأْتُمْ فَلَهَا ۚ فَإِذَا جَآءَ وَعْدُ ٱلْـَٔاخِرَةِ لِيَسُـۥٓـُٔوا۟

၇။ အကယ်၍ အသင်တို့သည် အကောင်းပြုခဲ့ကြသည်ရှိသော် မိမိတို့ကိုယ်များအဖို့ အကောင်းပြုကြမည်သာ။ သို့ရာတွင် အကယ်၍ အသင်တို့သည် အဆိုးပြုခဲ့ကြပါလျှင်လည်း မိမိတို့ကိုယ်များနှင့် ဆန့်ကျင်(၍ပြုကြ)မည်သာတည်း။ တစ်ဖန် ဒုတိယအကြိမ် (ပျက်စီးရာပျက်စီးကြောင်းကို အသင်တို့ပြုလုပ်ခဲ့ကြသည့်) အတွက် ချိန်းချက်ထားသော ဒဏ်(ကျရောက်ရန်အချိန်) သည် ဆိုက်ရောက်လာသောအခါ (ငါအရှင်မြတ်သည်

وُجُوهَكُمْ وَلِيَدْخُلُوا
الْمَسْجِدَ كَمَا دَخَلُوهُ أَوَّلَ
مَرَّةٍ وَلِيُتَبِّرُوا مَا عَلَوْا
تَتْبِيرًا ⑦

မိမိ အခြားကျွန်များအား) ယင်းတို့သည် အသင်တို့၏မျက်နှာများကို ပျက်စီး ညှိုးနွမ်းစေကြအံ့သောငှာလည်းကောင်း၊ ထိုသူတို့သည် ဗလီဝတ်ကျောင်းတော်သို့ ပထမအကြိမ် ဝင်ရောက်ခဲ့ကြသကဲ့သို့ ဝင်ရောက်ကြအံ့သောငှာလည်းကောင်း၊ ယင်းတို့(လက်လှမ်းမီ) နိုင်နင်းသမျှသော အရာဝတ္ထုများကို ဖြိုခွင်းဖျက်ဆီးကြအံ့သောငှာလည်းကောင်း၊ (အသင်တို့အပေါ်၌ လွှမ်းမိုးစေတော်မူမည်) ဖြစ်ပေသည်။

عَسَىٰ رَبُّكُمْ أَنْ يَرْحَمَكُمْ ۚ وَإِنْ
عُدْتُمْ عُدْنَا ۘ وَجَعَلْنَا جَهَنَّمَ
لِلْكَافِرِينَ حَصِيرًا ⑧

၈။ (အို-အိစ်ရာအီလီမျိုးနွယ်တို့) အသင်တို့ကို ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ်သည် အသင်တို့အပေါ်၌ ကရုဏာပြုကောင်း ပြုတော်မူပေမည်။ သို့ရာတွင် အကယ်၍သာ အသင်တို့သည် (ရှေးနည်းတူ) မောက်မာ ပလွှားခြင်းတို့ကို ထပ်မံ၍ ပြုခဲ့ကြသည်ရှိသော် ငါအရှင်မြတ်သည်လည်း (အသင်တို့အား ရှေးနည်းအတိုင်းပင်) ထပ်မံ၍ (ပြစ်ဒဏ်ပေးတော်မူခြင်းကို) ပြုလုပ်ထားတော်မူမည်သာတည်း။ စင်စစ်တွင်မူကား ငါအရှင်မြတ်သည် ဂျဟန္နမ်ငရဲဘုံကို ကာဖိရ်သွေဖည် ငြင်းပယ်ကုန်သော သူတို့အဖို့ အကျဉ်းထောင်ပြုလုပ်ထားတော်မူချေသတည်း။

إِنَّ هَٰذَا الْقُرْآنَ يَهْدِي لِلَّتِي
هِيَ أَقْوَمُ وَيُبَشِّرُ الْمُؤْمِنِينَ
الَّذِينَ يَعْمَلُونَ الصَّالِحَاتِ أَنَّ
لَهُمْ أَجْرًا كَبِيرًا ⑨

၉။ ဧကန်မလွဲ ဤကုရ်အာန်ကျမ်းတော်မြတ်သည် အဖြောင့်မတ်ဆုံးသော တရားလမ်းစဉ်ကို ညွှန်ကြားပြသလေသည်။ ထို့ပြင် ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူဆောက်တည်ကြကုန်သော မုအ်မင်န်သက်ဝင်ယုံကြည်သူတို့အား၊ ၎င်းတို့အဖို့ ကြီးကျယ်လှစွာသော အကျိုးဆုလာဘ်သည်ရှိသည်ဟူ၍ သတင်းကောင်းပေးလေသည်။

وَّاَنَّ الَّذِيْنَ لَا يُؤْمِنُوْنَ بِالْاٰخِرَةِ اَعْتَدْنَا لَهُمْ عَذَابًا اَلِيْمًا ⑩

၁၀။ ၎င်းပြင် ဧကန်စင်စစ် နောင်တမလွန်ဘဝကို မယုံကြည်သော သူတို့အဖို့ ငါအရှင်မြတ်သည် ပြင်းပြနာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်ကို အဆင့်သင့် ပြုလုပ်ထားတော်မူသည်(ကိုလည်း ဤကုရ်အာန်ကျမ်းတော်မြတ်သည် သတင်းပေးလေသည်။) ၁

وَيَدْعُ الْاِنْسَانُ بِالشَّرِّ دُعَآءَهٗ بِالْخَيْرِ ۭ وَكَانَ الْاِنْسَانُ عَجُوْلًا ⑪

၁၁။ စင်စစ် လူသားများသည် အကောင်းနှင့် စပ်လျဉ်း၍ မိမိတို့ လျှောက်ထား ပန်ကြားဘိသကဲ့သို့ ပင် အဆိုးနှင့်စပ်လျဉ်း၍လည်း လျှောက်ထားပန်ကြား ကြကုန်၏။ စင်စစ်သော်ကား လူသားတို့သည် (သဘာဝ အလျောက်ပင်) အလွန် အလျင်လိုသူများ ဖြစ်ကြကုန် သတည်း။ ၂

---

**① ကုရ်အာန်၏ကောင်းချီးသတင်း။**

ဤကုရ်အာန်ကျမ်းမြတ်သည် အခြားကျမ်းများနှင့်မတူပေ။ ဤကျမ်းသည် ကျမ်းဂန်အပေါင်းတို့၏ အချုပ်ဖြစ်သည်။ ကမ္ဘာ့အဝန်းကို အကောင်းဆုံး၊ အမှန်ဆုံး၊ အဖြောင့်မတ်ဆုံး၊ အခိုင်ခန့်ဆုံးနှင့် အမြတ်ဆုံး တရားလမ်းကို ညွှန်ပြသည်။ အခြားအခြားသော ကျမ်းများသည် သက်ဆိုင်ရာလူမျိုးတစ်မျိုးနှင့် သက်ဆိုင်ရာ ခေတ်တစ်ခေတ်အတွက်သာ ဖြစ်သည်။ ဤကျမ်းမူကား လူမျိုးတိုင်းအတွက် ဖြစ်သည်သာမက ကမ္ဘာတစ်သက် တည်ရှိမည့် ကျမ်းဂန်ဖြစ်သည်။ အခြားအခြားသော ကျမ်းများတွင်ပါရှိသော ဒေသနာတော်များသည် ဤကျမ်းတွင် တစ်နည်းတစ်ဖုံ အကျုံးဝင်ပြီးဖြစ်သည်။ သို့ဖြစ်ပေရာ နှစ်ဘဝ၏ သုခချမ်းသာ မင်္ဂလာအဖြာဖြာကို လိုချင်သော ပုဂ္ဂိုလ်တို့သည် ဤကျမ်းလာဒေသနာတော်များကို စိတ်ရောကိုယ်ပါ ယုံကြည်လိုက်နာကြရပေမည်။ ကောင်းမြတ်သော အကျင့်အမူများကို ကျင့်မူကြသော မုအ်မင်န်များအဖို့ အလွန်ကြီးကဲ့မြင့်မြတ်သော ကုသိုလ်အကျိုးရှိကြောင်း၊ နောင်တမလွန်ကို မယုံကြည်သောသူများအဖို့မှာမူ ပြင်းထန်သော ပြစ်ဒဏ်တော်ရှိကြောင်း ဤကျမ်းမြတ်သည် အတိအလင်း ကောင်းချီးသတင်းပေးလျက်ရှိသည်။

**② လူသည်အလျှင်စလိုပြုတတ်သည်။**

ကုရ်အာန်သည် လူသားတို့အား ကောင်းရာကိုညွှန်လျက်ရှိ၏။ မကောင်းရာကို မြစ်တားလျက်ရှိ၏။ ကောင်းမှု၏အကျိုးနှင့် မကောင်းမှု၏အပြစ်ကို အစဉ်ခွဲခြားပြီး သတိပေးလျက်ရှိ၏။ သို့တစေလည်း နောင်ရေး မစဉ်းစားသော ခေတ္တခဏခံစားရသည့် စည်းစိမ်ကို လိုလားသော အလျင်စလိုပြုတတ်သော အချို့လူသားသည် ကောင်းကျိုးချမ်းသာမှုကို မိမိအဖို့ လိုလားတောင်းဆိုသကဲ့သို့ မကောင်းကျိုးကိုလည်း စိတ်လိုက်မာန်ပါဒေါသဖြစ်ကာ တောင်းဆိုတတ်ပေသည်။

အချို့သူမိုက်များသည် ဒေါသအမျက် ထွက်သည့်အခါမစဉ်းစား မဆင်ခြင်တော့ဘဲ မိမိအတွက်သော် လည်းကောင်း၊ မိမိ၏သားသမီးများအတွက်သော်လည်းကောင်း၊ သူတစ်ပါးတို့အတွက်သော်လည်းကောင်း၊ ကျိန်ဆဲတတ်ကြပေသည်။



وَجَعَلْنَا الَّيْلَ وَالنَّهَارَ اٰيَتَيْنِ فَمَحَوْنَآ اٰيَةَ الَّيْلِ وَجَعَلْنَآ اٰيَةَ النَّهَارِ مُبْصِرَةً لِّتَبْتَغُوْا فَضْلًا مِّنْ رَّبِّكُمْ وَلِتَعْلَمُوْا عَدَدَ السِّنِيْنَ وَالْحِسَابَ ۗ وَكُلَّ شَيْءٍ فَصَّلْنٰهُ تَفْصِيْلًا ﴿١٢﴾

၁၂။ ထို့ပြင် ငါအရှင်မြတ်သည် ညဥ့်ကိုလည်းကောင်း၊ နေ့ကိုလည်းကောင်း၊ သက်သေလက္ခဏာ နှစ်ရပ်ကို ပြုလုပ်ထားတော်မူခဲ့လေသည်။ သို့ရာတွင် ငါအရှင်မြတ်သည် ညဥ့်၏သက်သေလက္ခဏာ နှစ်ရပ်ကို မှေးမှိန်စေတော်မူ၍ နေ့၏သက်သေလက္ခဏာများကိုမူကား အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ကျေးဇူးတော်ကို ဆည်းပူးရှာဖွေကြအံ့သောငှာလည်းကောင်း၊ အသင်တို့သည် နှစ်များ၏အရေအတွက်နှင့်တွက်ချက်မှုကို သိရှိကြအံ့သောငှာလည်းကောင်း၊ ငါအရှင်မြတ်သည် စက္ခုကို အလင်းပေးသောအရာ ပြုလုပ်တော်မူခဲ့လေသည်။ စင်စစ်သော်ကား ငါအရှင်မြတ်သည် (လိုအပ်သော) အရာခပ်သိမ်းတို့ကို အသေးစိတ် ရှင်းလင်းဖော်ပြတော်မူခဲ့ပေသတည်း။

وَكُلَّ اِنْسَانٍ اَلْزَمْنٰهُ طٰٓئِرَهٗ فِيْ عُنُقِهٖ ۗ وَنُخْرِجُ لَهٗ يَوْمَ الْقِيٰمَةِ كِتٰبًا يَّلْقٰىهُ مَنْشُوْرًا ﴿١٣﴾

၁၃။ ထို့ပြင် ငါအရှင်မြတ်သည် လူတိုင်းလူတိုင်း၏ အပြုအမူကို ၎င်း၏လည်ကုပ်တွင် ခိုင်မြဲစွာ ချည်နှောင်ထားတော်မူသည်။ ၎င်းပြင် ငါအရှင်မြတ်သည် ကိယာမတ်နေ့တွင် ၎င်းအား မှတ်တမ်းတစ်ခုကို ထုတ်ပေးတော်မူပေမည်။ ၎င်းသည် ထိုမှတ်တမ်းကို ပွင့်လျက်တွေ့ရှိရပေလိမ့်မည်။ [၁]

---

▶▶ အချို့သူမိုက်တို့သည် ခေတ္တခဏခံစားရသည့် လောကီစည်းစိမ်များကို ရသည့်နည်းဖြင့် ခံစားကြသည်။ လောကီစည်းစိမ်များ၏ နောက်ကွယ်မှပါလာမည့် ဘေးအန္တရာယ်များကို မမြင်ကြပေ။ ငါးစာကိုသာမြင်ကြ၏။ ကျော့ကွင်းကိုမမြင်ကြပေ။

အကယ်၍သာ လူသားများသည် အရာရာကိုအလျင်စလို မပြုဘဲ စဉ်းစဉ်းစားစား ဆင်ခြင်သုံးသပ်ဝေဖန်ပိုင်းခြားပြီးမှ အေးအေးဆေးဆေး ပြုလုပ်ပါက ဤသို့အမှားကြီးမှားကြမည်မဟုတ်ပေ။ ဤသို့အရှက်တကွဲအကျိုးနည်းလည်း ဖြစ်ကြရမည်မဟုတ်ပေ။

(၁) နေ့နှင့်ည၊ နေနှင့်လ စသည့် ကမ္ဘာ့တန်ဆာအားလုံးတို့သည် အလ္လာဟ်အရှင်မြတ် ပြဋ္ဌာန်းထားတော်မူသည့် အစီအစဉ်အတိုင်း တစ်သွေမတိမ်း စနစ်တကျ အချိန်မှန်မှန် လှုပ်ရှားသွားလာလျက်ရှိပေသည်။ တစ်မိနစ်တစ်စက္ကန့်မျှ ရှေ့နောက်မဖြစ်ပေ။ အချိန်နှင့်နေထွက်သည်။ အချိန်နှင့်လသာသည်။ အချိန်နှင့်မိုးလင်းသည်၊ ▶▶

اِقْرَاْ كِتٰبَكَ ؕ كَفٰى بِنَفْسِكَ الْيَوْمَ عَلَيْكَ حَسِيْبًا ؕ﴿۱۴﴾

၁၄။ (ထို့နောက် ၎င်းအား) အသင်သည် မိမိမှတ်တမ်းကိုဖတ်လော့၊ ယနေ့သည်ကား အသင် ကိုယ်တိုင်ပင် မိမိကိုယ်နှင့်ဆန့်ကျင်၍ စစ်ဆေးသူအဖြစ် လုံလောက်ပေသည်။

مَنِ اهْتَدٰى فَاِنَّمَا يَهْتَدِيْ لِنَفْسِهٖ ۚ وَمَنْ ضَلَّ فَاِنَّمَا يَضِلُّ عَلَيْهَا ؕ وَلَا تَزِرُ وَازِرَةٌ وِّزْرَ اُخْرٰى ؕ وَمَا كُنَّا مُعَذِّبِيْنَ

၁၅။ အကြင်သူသည် တရားလမ်းမှန်ကို ရရှိခဲ့လျှင် မိမိကိုယ်တိုင်၏အကျိုးငှာ တရားလမ်းမှန်ကို ရရှိခဲ့သည်သာ။ ထိုနည်းတူစွာ အကြင်သူသည် လမ်းမှားခဲ့လျှင်လည်း မိမိကိုယ်နှင့် ဆန့်ကျင်၍ လမ်းမှားခဲ့သည်သာတည်း။ အမှန်စင်စစ် မည်သည့် သယ်ပိုးသူတစ်ဦးတယောက်မျှပင် သူတစ်ပါး၏ဝန်ထုပ်ကို သယ်ပိုးလိမ့်မည် မဟုတ်ပေ။

---

➤➤ အချိန်နှင့်မိုးချုပ်သည်။ ထို့အတူ အခြားကိစ္စအဝဝတို့သည်လည်းအကောင်းဖြစ်စေ၊ အဆိုးဖြစ်စေ၊ အလ္လာဟ်အရှင်မြတ်သည် သတ်မှတ်ထားတော်မူသည့်အချိန်တွင် ထိုအရှင်မြတ် သတ်မှတ်ထားတော်မူသည့် စည်းကမ်းချက်နှင့်အညီ ဖြစ်ပေါ်လျက်ပင်ရှိပေသည်။ တစ်ဦးတစ်ယောက် အုပ်စုတစ်ခု၏ အလျင်စလို ဖြစ်စေလိုလားသည့်အတွက် အလ္လာဟ်အရှင်မြတ်၏ အစီအစဉ်သည် အလျှင်းပြောင်းလဲသည် မရှိပေ။

အကောင်း၏နောက်တွင် အဆိုး၊ အဆိုး၏နောက်တွင် အကောင်းဖြစ်ပေါ်ခြင်းမှာ တစ်နည်းအားဖြင့် နေ့၏နောက်တွင် ညဥ့်၊ ညဥ့်၏နောက်တွင် နေ့ဖြစ်ပေါ်နေခြင်းနှင့် အလားသဏ္ဍာန်တူပေသည်။ ဤစကြာဝဠာကြီးတွင် ဖြစ်ပေါ်လျက်ရှိသော ကိစ္စအဝဝတို့သည် အလ္လာဟ်အရှင်မြတ် သတ်မှတ်ထားတော်မူသည့် အစီအစဉ်အတိုင်း ဖြစ်နေခြင်းသာ ဖြစ်သည်။ ထိုသည့်အစီအစဉ်ကို မည်သူမျှမဖျက်နိုင်ပေ။

ဤပစ္စက္ခဘဝတွင် ရှုပ်ထွေးပွေလီလှသော လူသားတို့၏သက်တမ်းသည် မှောင်မည်းနေသော ညဥ့်နှင့်တူသည်။ ထိုညဥ့်အမှောင်တွင် အကောင်းနှင့်အဆိုး၏ ကောင်းကျိုးဆိုးကျိုးများကို မျက်ဝါးထင်ထင်မတွေ့မမြင်ရပေ။ ထို့အတွက် အလ္လာဟ်အရှင်မြတ်သည် အမှောင်တွင်း၌ ရောက်ရှိနေသောလူသားတို့အား တရားလမ်းမှန်ဟောကြားရန်နှင့် အကောင်းနှင့်အဆိုး၏ ကောင်းကျိုး ဆိုးကျိုးများကို ပြောကြားပြသရန်အတွက် တမန်တော်များအား စေလွှတ်တော်မူခြင်း ဖြစ်သည်။

သို့တစေလည်း လူသားတို့သည် ဤပစ္စက္ခလောက၏အမှောင်တွင် အကောင်းနှင့်အဆိုး၏ ကောင်းကျိုးဆိုးကျိုးများကို မျက်ဝါးထင်ထင် တပ်အပ်သေချာ မမြင်နိုင်ကြပေ။ ဤကမ္ဘာ၏ ညဥ့်မှောင်ကုန်၍ ကိယာမတ်နေ့ရောက်သောအခါ ယင်းသည့်ကိယာမတ်နေ့၏ အလင်းရောင်တွင်မူ လူသားတို့သည် မိမိတို့ကျင့်မူခဲ့သမျှသော အကောင်းအဆိုးဟူဟူသမျှတို့ကို မိမိကိုယ်တိုင် မျက်ဝါးထင်ထင်တွေ့မြင်ရပေမည်၊ မိမိ၏မှတ်တမ်းကို မိမိကိုယ်တိုင် ဖတ်ရပေမည်၊ လူ့လောကတွင် ဖုံးကွယ်လျက်ရှိခဲ့သော အရာအားလုံးတို့သည် ဤနေ့တွင် အားလုံး ပေါ်လွင်ထင်ရှားလာပေမည်။ ကြည့်-ကုရ်အာန် ၁၈း၄၉။ ၅၀း၂၂။

حَتّٰى نَبۡعَثَ رَسُوۡلًا ⑮

စင်စစ်သော်ကား ငါအရှင်မြတ်သည် ရစူလ်တမန်တော်တစ်ပါးပါးကို စေလွှတ်တော်မမူသမျှ ကာလပတ်လုံး ပြစ်ဒဏ်ပေးတော်မူသည် မဟုတ်ပေ။ ၁

وَاِذَاۤ اَرَدۡنَاۤ اَنۡ نُّهۡلِكَ قَرۡيَةً اَمَرۡنَا مُتۡرَفِيۡهَا فَفَسَقُوۡا فِيۡهَا فَحَقَّ عَلَيۡهَا الۡقَوۡلُ فَدَمَّرۡنٰهَا تَدۡمِيۡرًا ⑯

**၁၆။** တစ်ဖန် ငါအရှင်မြတ်သည် ရွာတစ်ရွာကို ဖျက်ဆီးရန် ရည်စူးတော်မူသောအခါ ထိုရွာရှိ စည်းစိမ်ရှင်များကို (အီမာန်ယုံကြည်ရန်/အမိန့်တော်နာခံရန်) အမိန့်ပေးတော်မူ၏။ ထိုအခါ ၎င်းတို့သည် ထိုရွာတွင် ဆိုးသွမ်းကြလေသည်။ သို့ဖြစ်ပေရာ ချိန်းချက်ထားသော ပြစ်ဒဏ်သည် ထိုရွာ၌သက်ရောက်လေသည်။ ထိုအခါ ငါအရှင်မြတ်သည် ထိုရွာကို *ဖျက်ဆီးတော်မူလေသတည်း။* ၂

---

① **အပြစ်ပေးပုံ။**

အလ္လာဟ်အရှင်မြတ်သည် ဤအာယတ်တော်တွင် မူတစ်ခုကို မိန့်ဆိုထားတော်မူသည်။ ထိုအရှင်မြတ်သည် တမန်တော်တစ်ပါးမှ တစ်ဆင့်ဖြစ်စေ၊ တမန်တော်၏ ကိုယ်စားလှယ်တစ်ဦးတစ်ယောက်မှ တစ်ဆင့်ဖြစ်စေ၊ လူမျိုးတစ်မျိုးအား တရားဓမ္မဟောကြားတော်မူခြင်း မပြုလုပ်သမျှကာလပတ်လုံး ပြစ်ဒဏ်ခတ်တော်မမူပေ။

ဤသည့်အာယတ်တော်ကို ကိုးကား၍ "မုဟက္ကစ်က်" သုခမိန်ကြီးများက "အကြင်လူမျိုးတစ်မျိုးသည် တမန်တော်ပွင့်မှုနှင့်ပတ်သက်၍ တစ်စုံတရာအလျှင်းမသိသော် ယင်းသို့သောလူမျိုးတစ်မျိုးသည် 'ကုဖ်ရ်' သွေဖည်ငြင်းဆန်မနာခံသည့် အတွက်ကြောင့်သော်လည်းကောင်း၊ ပြစ်မှုတစ်စုံတစ်ရာ ကျူးလွန်မိသည့်အတွက်ကြောင့်သော်လည်းကောင်း၊ ပြစ်ဒဏ်ခံရမည်မဟုတ်ပေ" ဟူ၍ အနက်ဖွင့်ကြသည်။

'ဖုကဟာ' ဓမ္မသတ်ရှင်များကလည်း ဤသည့်အာယတ်တော်ကို ကိုးကား၍ ရေးသားကြသည်မှာ 'ဒါရုလ်ဟရ်ဗ်' မှ ကာဖိရ် 'ဟရ်ဗီ' တစ်ယောက်သည် အစ္စလာမ်သာသနာသို့ ကူးပြောင်း သက်ဝင်ယုံကြည်လာခဲ့သော် ထိုကာဖိရ်သည် ကာဖိရ်အဖြစ်နှင့်ရှိခဲ့စဉ် ဆွလာတ်၊ ဇကာတ်စသည့် သာသနာ့အဆုံးအမများကို မကြားသိခဲ့သော၊ ထိုသို့မကြားသိခဲ့ရသည့် အချိန်အထိ ၎င်းအပေါ်၌ "ကဿွာ" ပြန်လည်ဆောက်တည်ဖြည့်စွက်ရန်တာဝန်မရှိပေ။ ထို့ပြင်တစ်ဝ တမန်တော်၏ဩဝါဒတော်များကို မသွေဖည်မငြင်းဆန်ဘဲ အသိဉာဏ်နှင့်ယှဉ်၍ တွေးဆဆင်ခြင်သိမြင်ရသောတာဝန်များကို သွေဖည်ဆန့်ကျင်ရုံမျှဖြင့်ဖျက်ဆီးချေမှုန်းသည့် ပြစ်ဒဏ်ခံရမည် မဟုတ်ပေ။

② အကျင့်အမူ အလွန်အကျွံ ဆိုးသွမ်းလာသည့်အတွက် မြို့ရွာတစ်ခုကို အရေးယူတော်မူလိုသည့်အခါ အလ္လာဟ်အရှင်မြတ်သည် ထိုမြို့ရွာသားတို့အား ရုတ်တရက်ချက်ချင်း ဖမ်းဆီး ကွပ်မျက်တော်မူသည်မဟုတ်။ သက်သေသာဓကေ အထောက်အထား ပြည့်ဝစုံလင်မှသာလျှင် ကွပ်မျက်တော်မူသည်။

အလ္လာဟ်အရှင်မြတ်သည် ဦးစွာပထမ တမန်တော်တစ်ပါးပါးအား စေလွှတ်၍သော်လည်းကောင်း၊ တမန်တော်၏ကိုယ်စားလှယ်များအား စေလွှတ်၍သော်လည်းကောင်း၊ ဒေသနာတော်များကို ➤➤

وَكَمْ اَهْلَكْنَا مِنَ الْقُرُوْنِ مِنْ بَعْدِ نُوْحٍ ۗ وَكَفٰى بِرَبِّكَ بِذُنُوْبِ عِبَادِهٖ خَبِيْرًاۢ بَصِيْرًا ﴿١٧﴾

၁၇။ စင်စစ်သော်ကား ငါအရှင်မြတ်သည် (နဗီ တမန်တော်)နူဟ်၏နောက်တွင် *မြောက်မြားစွာသော လူမျိုးဆက်တို့ကိုဖျက်ဆီးတော်မူခဲ့လေသည်။* [၁] စင်စစ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည်ပင် မိမိကျွန်များ၏ပြစ်မှုတို့ကို သိတော်မူသော အရှင်၊ မြင်တော်မူသောအရှင်အဖြစ် လုံလောက်တော်မူပေသည်။

مَنْ كَانَ يُرِيْدُ الْعَاجِلَةَ عَجَّلْنَا لَهٗ فِيْهَا مَا نَشَآءُ لِمَنْ نُّرِيْدُ ثُمَّ جَعَلْنَا لَهٗ جَهَنَّمَ ۚ يَصْلٰىهَا مَذْمُوْمًا مَّدْحُوْرًا ﴿١٨﴾

၁၈။ မည်သူမဆို ဤလောက၏စည်းစိမ်ကို ရည်စူးခဲ့လျှင် ငါအရှင်မြတ်သည် ထိုသူအားဤလောက၌ပင် ငါအရှင်မြတ် အလိုရှိတော်မူသောအရာကို ငါအရှင်မြတ် အလိုရှိတော်မူသောသူအား အဆောတလျင် ပေးတော်မူ၏။ ထို့နောက် ထိုသူအဖို့ ဂျဟန္နမ်ငရဲဘုံကို (အဆင်သင့်) ပြုလုပ်၍ထားတော်မူ၏။ထိုသူသည် ယင်းဂျဟန္နမ်ငရဲဘုံသို့ ပြစ်တင်ကဲ့ရဲ့ခြင်းခံရလျက်၊ နှင်ထုတ်ခြင်းခံရလျက် ဝင်ရောက်ရမည်သာတည်း။

---

➤➤ ဟောကြားစေတော်မူသည်။

ယင်းသို့ဟောကြားစေတော်မူရာ၌ အထူးသဖြင့် မြို့မိမြို့ဘ၊ ရွာမိရွာဘ အကြီးအကဲတို့အား ဟောကြားစေတော်မူသည်။ အဘယ်ကြောင့်ဆိုသော် အကြီးအကဲတို့၏ နာခံမှု၊ သွေဖည်မှုတို့၏ အကျိုးသည် နောက်လိုက်ငယ်သားတို့၌ သက်ရောက်ပေသည်။

အကြီးအကဲများသည် ဒေသနာတော်များကို သွေဖည်ငြင်းဆိုလိုက်ကြသည့်အခါ၊ ငယ်သားများသည်လည်း မိမိတို့၏ အကြီးအကဲများ၏ ခြေလှမ်းကိုကြည့်၍ သွေဖည်ငြင်းဆိုလိုက်ကြပေသည်။ ဤသို့အားဖြင့် တစ်မြို့လုံး၊ တစ်ရွာလုံးသည် ဒေသနာတော်များကို သွေဖည်၍ ပြစ်ဒဏ်တော်ကို ဖိတ်ခေါ်ကြလေသည်။

ယင်းသို့ ပြစ်ဒဏ်ခတ်တော်မူရန် သက်သေသာဓကေ အထောက်အထား ပြည့်ဝစုံလင်သည့်အခါ၊ အလ္လာဟ်အရှင်မြတ်သည် ထိုသို့သော မြို့ရွာသားတို့အား ဖမ်းဆီးကွပ်မျက်တော်မူလေသည်။ အွတ်ဆ်မာနီ။

(၁) ဖခင်ကြီးအာဒမ်၏ခေတ်နှင့် တမန်တော်နူဟ်၏ခေတ် စပ်ကြားတွင် လူသားတို့သည် အစ္စလာမ်သာသနာ အပေါ်၌ပင် တည်ရှိခဲ့ကြပေသည်။ ထို့နောက်ရရစ်က် ယှဉ်တွဲကိုးကွယ်မှု၊ ရုပ်တုကိုးကွယ်မှုများ ဖြစ်ပေါ်လာခဲ့ပေသည်။ တမန်တော်နူဟ်သည် ထိုသည့်မှားယွင်းနေသော ကိုးကွယ်မှုများကို ပြင်ဆင်ရန်အတွက် ပွင့်လာခြင်းဖြစ်သည်။ တမန်တော်နူဟ်သည် မိမိ၏အမျိုးသားတို့အား နှစ်ပရိစ္ဆေဒမြောက်မြားစွာမျှ သွန်သင်ဆုံးမ သြဝါဒပေးခဲ့သော်လည်း ယင်းအမျိုးသားတို့သည် မနာခံခဲ့ကြပေ။ နောက်ဆုံးတွင် ၎င်းတို့သည် ရေဘေးသင့်၍ မရှုမလှ ပျက်ဆီးသွားခဲ့ကြလေသည်။ ➤➤

وَمَنْ أَرَادَ الْآخِرَةَ وَسَعَىٰ لَهَا سَعْيَهَا وَهُوَ مُؤْمِنٌ فَأُولَٰئِكَ كَانَ سَعْيُهُم مَّشْكُورًا ﴿١٩﴾

၁၉။ သို့ရာတွင် မည်သူမဆို တမလွန်ဘဝကို ရည်စူးခဲ့သော်၊ ၎င်းပြင် ထိုသူသည် တမလွန်ဘဝနှင့်လျော်ညီသော ကြိုးစားမှုကိုလည်း အပတ်တကုတ် အားထုတ်ကြိုးစားခဲ့သော်၊ ထိုမှတစ်ပါး ၎င်းသည် မုအ်မင်န် သက်ဝင်ယုံကြည်သူလည်းဖြစ်ခဲ့သော်၊ ထိုကဲ့သို့သော သူတို့၏ ကြိုးပမ်းမှုကား သဘောတူလက်ခံပြီး ဖြစ်အံ့သတည်း။ ၁

كُلًّا نُّمِدُّ هَٰؤُلَاءِ وَهَٰؤُلَاءِ مِنْ عَطَاءِ رَبِّكَ ۚ وَمَا كَانَ عَطَاءُ رَبِّكَ مَحْظُورًا ﴿٢٠﴾

၂၀။ ငါအရှင်မြတ်သည် ဤသူတို့ကိုလည်းကောင်း၊ ထိုသူတို့ကိုလည်းကောင်း၊ အသီးသီးတို့ကို အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ (လောကီဆိုင်ရာ)ဆုလာဘ်ကျေးဇူးတော်မှ ကူညီစောင်မတော်မူလေသည်။ စင်စစ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ (လောကီဆိုင်ရာ) ဆုလာဘ်ကျေးဇူးတော်ကား (မည်သူတစ်ဦးတစ်ယောက်အပေါ်၌မျှ) ပိတ်ပင်ထားသည် မရှိချေ။

انظُرْ كَيْفَ فَضَّلْنَا بَعْضَهُمْ عَلَىٰ بَعْضٍ ۚ وَلَلْآخِرَةُ أَكْبَرُ دَرَجَاتٍ وَأَكْبَرُ تَفْضِيلًا ﴿٢١﴾

၂၁။ ငါအရှင်မြတ်သည် ၎င်းတို့အနက် အချို့ကို အချို့ထက် မည်သို့မည်ပုံ ထွတ်မြတ်စေတော်မူခဲ့သည်ကို အသင်သည်ရှုပါလေ။ အမှန်စင်စစ် နောင်တမလွန်ဘဝသည် အဆင့်အတန်းအားဖြင့်လည်းကောင်း၊ ထွတ်မြတ်မှုအားဖြင့်လည်းကောင်း၊ အလွန်ကြီးကျယ်လှပေသတည်း။

---

➤➤ တမန်တော်နူဟ်၏ အမျိုးသားများ၏နောက် အာဒ်၊ ဆမူဒ်စသည့်အမျိုးသားတို့သည်လည်း သက်ဆိုင်ရာမိမိတို့၏ တမန်တော်များ၏ အမိန့်ဩဝါဒတော်များကို မနာခံ သွေဖည်ငြင်းဆန်ခဲ့ကြသည့်အတွက် အသီးသီး ပြစ်ဒဏ်သင့်၍ ပျက်စီးသွားခဲ့လေသည်။

① ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် အကျင့်သီလတစ်ပါးကို အလ္လာဟ်အရှင်မြတ် လက်ခံသဘောတူတော်မူရန်အလို့ငှာ-(၁) နီယတ်စိတ်စေတနာ၏မှန်ကန်မှု (၂) အကျင့်အမူ၏မှန်ကန်မှု (၃) အကီဒဟ်ယုံကြည်ချက်၏ မှန်ကန်မှုစသည်တို့သည် မရှိမဖြစ်သော အဓိကအချက်များပင်ဖြစ်ကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။ ကြည့်-ထာနဝီ။ မာဂျိဒီ

لَا تَجۡعَلۡ مَعَ اللّٰهِ اِلٰهًا اٰخَرَ فَتَقۡعُدَ مَذۡمُوۡمًا مَّخۡذُوۡلًا ﴿۲۲﴾

၂၂။ အသင်သည် အလ္လာဟ်အရှင်မြတ်နှင့်အတူ မည်သည့် ကိုးကွယ်ရာကိုမျှ (တွဲဖက် ကိုးကွယ်ခြင်းကို) မပြုလုပ်လေနှင့်။ သို့ပြုခဲ့ပါလျှင် အသင်သည် ပြစ်တင်ရှုတ်ချခြင်း ခံရလျက် (ကူညီစောင်မသူအဆွေခင်ပွန်းများ ကင်းမဲ့စွာ) စွန့်ပစ်ထားခြင်း ခံရလျက် (တစ်ကိုယ်တည်း) ထိုင်၍နေရမည်သာတည်း။ [၁]

وَقَضٰى رَبُّكَ اَلَّا تَعۡبُدُوۡۤا اِلَّاۤ اِيَّاهُ وَبِالۡوَالِدَيۡنِ اِحۡسَانًا ؕ اِمَّا يَبۡلُغَنَّ عِنۡدَكَ الۡكِبَرَ اَحَدُهُمَاۤ اَوۡ كِلٰهُمَا فَلَا تَقُلۡ لَّهُمَاۤ اُفٍّ وَّلَا تَنۡهَرۡهُمَا وَقُلۡ لَّهُمَا قَوۡلًا كَرِيۡمًا ﴿۲۳﴾

၂၃။ စင်စစ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် (ဤသို့)အမိန့်တော်စီရင်ချမှတ်ပြဋ္ဌာန်းတော်မူခဲ့လေသည်။ အသင်တို့သည် ထိုအရှင်မြတ်မှတပါး အခြားကို ခဝပ်ကိုးကွယ် ရှိခိုးပူဇော်ခြင်းအလျှင်းမပြုကြရပေ။ ၎င်းပြင် မိဘနှစ်ပါးအား ကောင်းစွာ ပြုစု သဂြိုဟ်ထောက်ပံ့ကြရမည်။

အကယ်၍ ထိုမိဘနှစ်ပါးအနက် တစ်ဦးဦးသော်လည်းကောင်း၊ နှစ်ဦးစလုံးသော်လည်းကောင်း၊ အသင်၏ရှေ့မှောက်တွင် သက်ရွယ်ကြီးရင့် အိုမင်းခြင်းသို့ ရောက်ရှိလတ်သော် အသင်သည် ထိုမိဘနှစ်ပါးအား "အို" ဟူ၍ပင် မပြောဆိုလေနှင့်။ ထို့ပြင် အသင်တို့သည် ထိုမိဘနှစ်ပါးအား ငေါက်ငမ်းခြင်းကိုလည်း မပြုလေနှင့်။ အသင်သည် ထိုမိဘနှစ်ပါး(နှင့် စကားပြောဆိုသောအခါ ၎င်းတို့အား) ယဉ်ကျေးသိမ်မွေ့ ရည်မွန်သော စကားကိုသာ ပြောဆိုပါလေ။

---

(၁) "တောင်ဟီဒ်" သည် အစ္စလာမ်၏အဓိကမဏ္ဍိုင်ကြီးဖြစ်သည်။ တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ရမည်။ ထိုအရှင်မြတ်နှင့်တွဲဖက်၍ မည်သည့်အရာကိုမျှ အလျင်းမကိုးကွယ်ရ။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၂း၈၃)တွင် ဖွင့်ဆို ရေးသားခဲ့ပေပြီ။

وَاخۡفِضۡ لَهُمَا جَنَاحَ الذُّلِّ مِنَ الرَّحۡمَةِ وَقُلۡ رَّبِّ ارۡحَمۡهُمَا كَمَا رَبَّيٰنِيۡ صَغِيۡرًا ۝٢٤

၂၄။ ၎င်းအပြင် အသင်သည် ထိုမိဘနှစ်ပါး၏ ရှေ့မှောက်တွင် ၎င်းတို့အပေါ်၌ ကရုဏာတရား ထားရှိသောအားဖြင့် ကျိုးနွံစွာရှိပါလေ။ ထို့ပြင် အသင်သည် (ထိုမိဘနှစ်ပါးနှင့်ပတ်သက်၍ အလ္လာဟ်အရှင်မြတ် အထံတော်၌) အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ ထိုမိဘနှစ်ပါးသည် ကျွန်တော်မျိုးအား ငယ်စဉ်တောင်ကျေး ကလေးဘဝ၌ ပြုစုပျိုးထောင်ခဲ့ကြသကဲ့သို့ပင် အရှင်မြတ်သည်လည်း ၎င်းတို့ နှစ်ပါးအပေါ်၌ ကရုဏာပြုတော်မူပါဟု လျှောက်ထားပန်ကြားပါလေ။

رَبُّكُمۡ اَعۡلَمُ بِمَا فِيۡ نُفُوۡسِكُمۡ ؕ اِنۡ تَكُوۡنُوۡا صٰلِحِيۡنَ فَاِنَّهٗ كَانَ لِلۡاَوَّابِيۡنَ غَفُوۡرًا ۝٢٥

၂၅။ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အသင်တို့၏စိတ်နှလုံးများ၌ ရှိသည်တို့ကို ကောင်းစွာ သိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။ အကယ်၍ အသင်တို့သည် အမိန့်တော်ကို လိုက်နာသူများ (သူတော်စင်များ)ဖြစ်ကြပါလျှင် ဧကန်မလွဲ ထိုအရှင်မြတ်သည်လည်း ဝန်ချတောင်းပန်သူတို့အဖို့ အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَاٰتِ ذَا الۡقُرۡبٰى حَقَّهٗ وَالۡمِسۡكِيۡنَ وَابۡنَ السَّبِيۡلِ وَلَا تُبَذِّرۡ تَبۡذِيۡرًا ۝٢٦

၂၆။ ထို့မှတပါး အသင်သည် ဆွေမျိုးနီးစပ်သူအား ၎င်း၏ရသင့်ရထိုက်သော အခွင့်အရေးကို ပေးပါလေ။ (ထို့ပြင် သူဆင်းရဲအားလည်းကောင်း၊ ခရီးသည်အားလည်းကောင်း၊ (ယင်းတို့ရသင့်ရထိုက်သောအခွင့်အရေးများကိုပေးပါလေ)။ သို့ရာတွင် အသင်သည် (မိမိဥစ္စာပစ္စည်းများကို) *အလဟဿ မဖြုန်းတီးလေနှင့်။* ①

① အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသော ဥစ္စာပစ္စည်းများကို အဓိပ္ပာယ်မရှိသော နေရာများတွင် အလဟဿ မဖြုန်းတီးရ။

➢➢

إِنَّ الْمُبَذِّرِينَ كَانُوا إِخْوَانَ الشَّيَاطِينِ ۖ وَكَانَ الشَّيْطَانُ لِرَبِّهِ كَفُورًا ﴿٢٧﴾

၂၇။ ဧကန်မလွဲ အလဟဿဖြုန်းတီးသူတို့သည် ရှိုင်တွာန်မိစ္ဆာကောင်၏ ညီသားအစ်ကိုများပင် ဖြစ်ကြကုန်သည်။ စင်စစ် ရှိုင်တွာန်မိစ္ဆာကောင်သည် မိမိကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား အလွန်ကျေးဇူးကန်းသူပင် ဖြစ်ချေသတည်း။

وَإِمَّا تُعْرِضَنَّ عَنْهُمُ ابْتِغَاءَ رَحْمَةٍ مِّن رَّبِّكَ تَرْجُوهَا فَقُل لَّهُمْ قَوْلًا مَّيْسُورًا ﴿٢٨﴾

၂၈။ သို့ရာတွင် အကယ်၍ အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ ကရုဏာတော်ကို စောင့်မျှော်နေခိုက် ၎င်းတို့အား လျစ်လျူရှုရပါလျှင် အသင်သည် ၎င်းတို့အား ပြေပြစ်သာယာသော စကားကို ပြောဆိုပါလေ။ ၁

➤➤ အချို့သူတို့သည် ဥစ္စာပစ္စည်းများကို အပြစ်မကင်းသော နေရာများ၊ အချည်းအနှီးသော နေရာများတွင် စည်းမဲ့ကမ်းမဲ့ ဖြုန်းတီးကြသည်။ အချို့သူတို့သည် ဥစ္စာပစ္စည်းများကို သုံးပိုင်ခွင့်ရှိသော နေရာများတွင် သုံးကြသည်ကား မှန်၏။ သို့ရာတွင် ရှေ့ရေး၊ နောင်ရေးမတွေးဘဲ စည်းမဲ့ကမ်းမဲ့ ပရမ်းပတာသုံးဖြုန်းကြသည်။

နောက်ဆုံးတွင် ထိုသို့သောသူများသည် ဆင်းရဲနွမ်းပါးသွားပြီး တာဝန်များပင် ပျက်ကွက်လာကြသည် သာမက တားမြစ်ထားတော်မူသော အပြစ်ကြီးများကိုပင် ကျူးလွန်လာကြပေသည်။ ဤကား ဖြုန်းတီးခြင်း၏ မကောင်းကျိုးပင်။ အမှန်မှာ ဥစ္စာပစ္စည်းသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်တစ်ပါးပင်။ ဥစ္စာပစ္စည်းဖြင့် လူသားတို့သည် ခဝပ်ကိုးကွယ်မှုများကို စိတ်ကြည်နူးစွာဖြင့် ဆောက်တည်နိုင်ကြပေသည်။ မြောက်မြားစွာသော သာသနာရေးနှင့်လူမှုရေးများကို ပြီးမြောက်စေနိုင်ကြပေသည်။

ဥစ္စာပစ္စည်းများသည် လောကီရေးနှင့် လောကုတ္တရာရေးများတွင် အသုံးဝင်လှ၏။ ဤသို့ အသုံးဝင်သော ဥစ္စာပစ္စည်းကို အချည်းအနှီး သုံးဖြုန်းပစ်ခြင်းသည် ယင်းသည် ဥစ္စာပစ္စည်းကို ချီးမြှင့်တော်မူသော အလ္လာဟ်အရှင်မြတ်အား ကျေးဇူးကန်းခြင်းပင်ဖြစ်သည်။

ကျေးဇူးကန်းခြင်းသည် ရှိုင်တွာန်၏ အလုပ်သာဖြစ်သည်။ ရှိုင်တွာန်သည် အလ္လာဟ်အရှင်မြတ်က မိမိအား ချီးမြှင့်ထားတော်မူသည့် စွမ်းရည်သတ္တိများကို ထိုအရှင်မြတ်အား သွေဖည်ရာတွင်လည်းကောင်း၊ လူသားတို့အား လမ်းမှားစေရာတွင်လည်းကောင်း သုံးဖြုန်းခဲ့ပေသည်။ နောက်ဆုံးတွင် ရှိုင်တွာန်သည် ပျက်စီးခြင်းကြီးမက ပျက်စီးသွားခဲ့ပေသည်။ ထို့အတွက်ကြောင့် ဤအာယတ်တော်တွင် ဖြုန်းတီးသူတို့အား ရှိုင်တွာန်၏ ညီနောင်များဟု သုံးနှုန်းထားတော်မူခြင်းဖြစ်သည်။ ဆိုလိုသည်ကား-ရှိုင်တွာန် ပျက်စီးသွားသကဲ့သို့ ရှိုင်တွာန်၏ ညီနောင်များသည်လည်း ပျက်စီးသွားကြရမည်သာတည်း။

(၁) **အခွင့်မသင့်သေးက ချေင်စွာ ပြောဆိုရမည်။**

အမြဲတစေ သဂြိုလ်ထောက်ပံ့ခဲ့သူတစ်ဦးသည် တစ်ခါတစ်ရံ အခွင့်မသင့်လျှင် ကူညီထောက်ပံ့လိုပါလျက် မထောက်ပံ့နိုင်ဘဲ ခေတ္တခဏ လျစ်လျူပြုရပါလျှင် ထိုသည့်အချိန်အခါမျိုးတွင် စိတ်ထိခိုက်စေမည့် ➤➤

وَلَا تَجْعَلْ يَدَكَ مَغْلُولَةً إِلَىٰ عُنُقِكَ وَلَا تَبْسُطْهَا كُلَّ الْبَسْطِ فَتَقْعُدَ مَلُومًا مَّحْسُورًا ﴿٢٩﴾

၂၉။ ထိုမှတပါး အသင်သည် မိမိလက်ကို မိမိလည်ကုပ်တွင် တုပ်နှောင်ပြီးမထားလေနှင့်၊ ထို့နည်းတူစွာ အသင်သည် ယင်းလက်ကို လုံးဝ ဖွင့်၍လည်း မထားလေနှင့်။ [၁] သို့ပြုခဲ့လျှင် အသင်သည် ပြစ်တင်ရှုတ်ချခြင်းခံရလျက် ဝမ်းနည်းကြေကွဲလျက်၊ ထိုင်၍ နေရချိမ့်မည်။

إِنَّ رَبَّكَ يَبْسُطُ الرِّزْقَ لِمَن يَشَاءُ وَيَقْدِرُ ۚ إِنَّهُ كَانَ بِعِبَادِهِ خَبِيرًا بَصِيرًا ﴿٣٠﴾

၃၀။ ဧကန်စင်စစ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား ရိဇ္ဇ်ကို တိုးချဲ့၍ ပေးသနားတော်မူ၏။ ထို့နည်းတူစွာ ထိုအရှင်မြတ်သည်ပင် (မိမိအလိုမရှိတော်မူသောသူအား ရိဇ္ဇ်ကို) ကျဉ်းကျပ်စေတော်မူလေသည်။ ဧကန်မလွဲ ထိုအရှင်မြတ်သည် မိမိကျွန်များ၏ (အခြေအနေ)ကို အလွန်တရာ သိတော်မူသောအရှင်၊ အလွန်တရာ မြင်တော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

---

➤➤ စကားများကို အထူးရှောင်ကြဉ်၍ ချောင်ပြေပြစ်သောစကားကိုသာ ပြောဆိုရပေမည်။ စိတ်ထိခိုက်စေမည့် စကားများကို ပြောဆိုမိပါက ယခင်ပြုစုထားခဲ့သည့် ကုသိုလ်ကောင်းမှု များသည်ပင် ပျက်စီးသွားမည်ကို စိုးရိမ်ရပေသည်။

(၁) **သုံးစွဲရာတွင် အလယ်အလတ် လမ်းစဉ်ကို လိုက်ရမည်။**

သုံးစွဲရာတွင် အလွန်အကျွံ မတွန့်တိုရ၊ မစေးနဲရ၊ ရှိစုမဲ့စု အားလုံးကိုလည်း စေတနာ ရေစီးကမ်းပြို ဖြစ်ကာ "အိတ်သွန် ဖာမှောက်" လှူမပစ်ရ၊ သို့လှူလျှင် နောက်ဆုံးတွင် မိမိကိုယ်တိုင် သူတပါးထံ လက်ဖြန့်တောင်းစားရသည့်ဘဝသို့ ရောက်ရှိသွားပေမည်။ "စေတနာလွန် ကျွန်ဖြစ်" ဆိုသည့်စကားကို သတိပြုရမည်။ သုံးစွဲရာတွင် အလယ်အလတ် လမ်းစဉ်ကိုသာ လိုက်နာရမည်။ တမန်တော်မြတ်ကလည်း "အလယ်အလတ် လမ်းစဉ်ကို လိုက်သောသူသည် မတောင့်တ မကြောင့်ကြရပေ"ဟု မိန့်ကြားတော်မူခဲ့လေသည်။

စေးနဲသည့်အတွက် ကြွယ်ဝသည်လည်းမဟုတ်၊ သူတပါးလည်း မွဲသွားသည်မဟုတ်။ ကြွယ်ဝစေတော်မူခြင်း၊ ဆင်းရဲစေတော်မူခြင်း၊ ချောင်ချိစေတော်မူခြင်း၊ ပိုပေးတော်မူခြင်း၊ လျှော့ပေးတော် မူခြင်းစသည်တို့သည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ ထိုအရှင်မြတ်သည် မိမိအလိုတော်ဖြင့် အချို့အား ကြွယ်ဝစေတော်မူ၏။ အချို့အား ဆင်းရဲစေတော်မူ၏။ အချို့အား ပိုပေးတော်မူ၏။ အချို့အား လျှော့ပေးတော်မူ၏။ ဤသည်လူသားနှင့်မဆိုင်၊ လူသားတို့သည် အမိန့်ပညတ်တော်များကို လိုက်နာကျင့်သုံးကြရမည်သာဖြစ်သတည်း။

وَلَا تَقْتُلُوٓا۟ أَوْلَـٰدَكُمْ خَشْيَةَ إِمْلَـٰقٍ ۖ نَّحْنُ نَرْزُقُهُمْ وَإِيَّاكُمْ ۚ إِنَّ قَتْلَهُمْ كَانَ خِطْـًٔا كَبِيرًا ﴿٣١﴾

၃၁။ ၎င်းပြင် အသင်တို့သည် စီးပွားရေးကျပ်တည်းမှုကို စိုးရိမ်သောကြောင့် မိမိတို့၏ သားသမီးများအား မသတ်ဖြတ်ကြကုန်လင့်။ (စင်စစ်) ငါအရှင်မြတ်သည်ပင်လျှင် ယင်းတို့အားလည်းကောင်း၊ အသင်တို့အားလည်းကောင်း၊ စားနပ်ရိက္ခာ ချီးမြှင့်ပေးသနားတော်မူပေသည်။ ဧကန်မလွဲ ၎င်းတို့အား သတ်ဖြတ်ခြင်းကား အလွန်ကြီးလေးသော ပြစ်မှုပင် ဖြစ်ချေသတည်း။

وَلَا تَقْرَبُوا۟ ٱلزِّنَىٰٓ ۖ إِنَّهُۥ كَانَ فَـٰحِشَةً وَسَآءَ سَبِيلًا ﴿٣٢﴾

၃၂။ ထို့ပြင် အသင်တို့သည် *ကာမေသုမိစ္ဆာစာရ၏ အပါးသို့ပင် မချဉ်းကပ်ကြကုန်လင့်။* [၁] ဧကန်မလွဲ ယင်းကာမေသုမိစ္ဆာစာရသည် အလွန်စက်ဆုပ်ရွံရှာဖွယ်ဖြစ်သည့်ပြင် အလွန် ဆိုးဝါးလှသော လမ်းစဉ်လည်း ဖြစ်ပေသတည်း။

---

**(၁) ကာမေသုမိစ္ဆာစာရကံ မကျူးလွန်ရ**

ကာမေသု မိစ္ဆာစာရကံသည် အလွန့်အလွန် ဆိုးယုတ်ညစ်ညမ်းသည့် မိစ္ဆာမှုဖြစ်သည်။ ဤမိစ္ဆာမှုကို ကျူးလွန်ခြင်းအားဖြင့် ခိုက်ရန်အမျိုးမျိုးပွားမည်။ အနှောင့်အယှက် အမျိုးမျိုးလည်း ပေါ်မည်။ အတိုင်းမသိ ပြဿနာအမျိုးမျိုးလည်း ပေါ်မည်။ မျိုးနွယ်ဆက်လည်း ပျောက်ကွယ်သွားမည်။ မျိုးနွယ်ဆက် ပျောက်ကွယ်သွားလျှင် သားချင်းဆွေမျိုးဟူ၍ ရှိမည်မဟုတ်။ သားချင်းဆွေမျိုးမရှိလျှင် အချင်းချင်း ထောက်ထားစာနာ လေးစားမှုလည်း ရှိမည်မဟုတ်။ ဤမျှ ဆိုးရွားသော မိစ္ဆာမှုကို လျစ်လျူပြုထားပါလျှင် မကောင်းသောစေတနာဖြင့် သူတပါး သားမယားတို့အား ကြည့်ကြမည်။ အမျိုးသမီးလောကကြီးမှာ လုံခြုံမှုရှိတော့မည်မဟုတ်၊ ပျက်စီးသွားရတော့ပေမည်။ လူသားတို့သည်လည်း တိရစ္ဆာန်နှင့်မခြား၊ တိရစ္ဆာန်များထက်ပင် ပိုမိုဆိုးရွားသွားကြပေမည်။

"အလ္လာဟ်အရှင်မြတ်အထံတော်၌ (ရှရစ်ကံ)၏ နောက်တွင် အကြီးဆုံးအပြစ်မှာ မိစ္ဆာစာရကံ ကျူးလွန်ခြင်းပင်ဖြစ်သည်ဟု တမန်တော်မြတ်က မိန့်ကြားတော်မူခဲ့လေသည်။ အီဗ်နုကဆီရ်။

ဤအာယတ်တော်တွင် "အသင်တို့သည် ကာမေသုမိစ္ဆာစာရကံ အနီးသို့ပင် မချဉ်းကပ်ကြကုန်လင့်" ဟု မိန့်ဆိုထားတော်မူသည်ကို သတိပြုရာ၏။ ဆိုလိုသည်ကား မိစ္ဆာစာရကံ၊ ကျူးလွန်ရန်ဝေးစွ မိစ္ဆာစာရကို ကျူးလွန်ရန် ဖန်တီးပေးသည့် အကြောင်းတရားများကိုလည်း ဝေးစွာ ရှောင်ကြဉ်ရမည်ဟူ၏။

ထို့အတွက်ကြောင့်ပင် အစ္စလာမ်သာသနာသည် စည်းမျဉ်းဥပဒေအားဖြင့်လည်းကောင်း၊ ပညာသင်ကြားပေးခြင်း အားဖြင့်လည်းကောင်း၊ ပေါင်းသင်းဆက်ဆံမှုကို ပြုပြင်ပေးခြင်းအားဖြင့်လည်းကောင်း၊ အနေအထိုင် အဝတ်အစားများကို ပြုပြင်ပေးခြင်းအားဖြင့်လည်းကောင်း၊ နည်းမျိုးစုံဖြင့် မိစ္ဆာမှုဖြစ်ပွားစေနိုင်သည့် အကြောင်းအရပ်ရပ်တို့ကို ပိတ်ပင်ကာကွယ်ထားလေသည်။

အစ္စလာမ်သည် မိစ္ဆာစာရ ကျူးလွန်ခြင်း၊ စွပ်စွဲပြောဆိုခြင်း၏ အပြစ်များကို ကြောက်ဖွယ်လိုလို ➤➤

وَلَا تَقْتُلُوا النَّفْسَ الَّتِي حَرَّمَ اللَّهُ إِلَّا بِالْحَقِّ ۗ وَمَن قُتِلَ مَظْلُومًا فَقَدْ جَعَلْنَا لِوَلِيِّهِ سُلْطَانًا فَلَا يُسْرِف فِّي الْقَتْلِ ۖ إِنَّهُ كَانَ مَنصُورًا ﴿٣٣﴾

၃၃။ ၎င်းပြင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်က တားမြစ်ပညတ်ထားတော်မူသော အသက်ဇီဝိန်ကို မှန်ကန်သော *အကြောင်းမရှိဘဲလျက် သတ်ဖြတ်ခြင်း မပြုကြရချေ။* [၁]

စင်စစ်သော်ကား မတရားသဖြင့် သတ်ဖြတ်ခြင်း ခံရသောသူ၏ ပြောရေးဆိုခွင့်ရှိသောအမွေစားအမွေခံအား ဧကန်စင်စစ် ငါအရှင်မြတ်သည် အခွင့်အာဏာကို ချီးမြှင့်၍ထားတော်မူခဲ့လေသည်။ သို့ရာတွင် ယင်းအမွေစားအမွေခံသည် သတ်ဖြတ်မှုနှင့်စပ်လျဉ်း၍ စည်းကမ်းကို မကျူးလွန်ရချေ။ [၂] အကြောင်းသော်ကား ထိုအမွေစားအမွေခံသည် (အလ္လာဟ်အရှင်မြတ်၏) ကူညီထောက်ခံမှုကို ရရှိပြီးဖြစ်သောကြောင့်ပင်တည်း။

---

➤➤ သတ်မှတ်ထားလေသည်။ "ဟိဂျာဗ်"ထားရန် အမိန့်ထုတ်ထားသည်။ ညစ်ညမ်းမှုအရပ်ရပ်ကို ပိတ်ပင်ထားသည်။ သေစာအရက်၊ အတီးအမှုတ်၊ အကအခုန်၊ ကာမဂုဏ်နှိုးကြွသည့်ရုပ်ပုံ၊ ဓာတ်ပုံစသည့် အရာအားလုံးတို့ကို လေးလေးနက်နက် တားမြစ်ထားသည်။ ကြည့်-မောင်ဒူဒီ။

**(၁) မတရား မသတ်ဖြတ်ရ။**

အစ္စလာမ်သည် မတရားသဖြင့် သတ်ဖြတ်ခြင်းကို လုံးဝဟရာမ်ဟူ၍ လေးနက်စွာ ပညတ်ထားသည်။ မည်သူ့ကိုမျှ မသတ်ဖြတ်ရ။ သို့ရာတွင် အကယ်၍ အစ္စလာမ်၏တရားဥပဒေအရ သတ်ဖြတ်ရန် ခိုင်လုံသော အကြောင်း ပေါ်ပေါက်လာပါက ချွင်းချက်ဖြင့် သတ်ဖြတ်ခွင့်ပြုထားသည်။ ခိုင်လုံသော အကြောင်းများကြောင့် သတ်ဖြတ်ခွင့်ပြုထားခြင်းမှာ ချွင်းချက်သာဖြစ်သည်ကို သတိပြုရာ၏။

ဗုခါရီနှင့်မွတ်စ်လင်မ်ကျမ်းကြီးများတွင် လာရှိသည်မှာ မွတ်စ်လင်မ်တစ်ဦးသည် အောက်ပါအကြောင်း သုံးရပ်အနက် အကြောင်းတစ်ရပ်ရပ်ကို ကျူးလွန်မှသာလျှင် ၎င်းအား သတ်ဖြတ်ကွပ်မျက်ရသည်။

(၁) ကာမေသုမိစ္ဆာစာရကို ကျူးလွန်ခြင်း၊

(၂) သူတပါးအား မတရားသတ်ဖြတ်ခြင်း၊

(၃) အစ္စလာမ်သာသနာမှ ဖောက်ပြန်သွားခြင်း၊

(၂) အသတ်ခံရသူ၏ (ဝလီ) ပြောရေးဆိုခွင့်ရှိသော အမွေစားအမွေခံများသည် သက်ဆိုင်ရာ နိုင်ငံတော်အစ္စလာမ် အစိုးရအား တင်ပြတောင်းဆို၍ လူသတ်မှုတရားခံအား သတ်စားသတ်ရန် တောင်းဆိုပိုင်ခွင့်ရှိပေသည်။ သို့ရာတွင် သတ်စားသတ်ရာ၌ စည်းကမ်းမလွန်ကြရပေ။

ဥပမာ-လူသတ်မှုကျူးလွန်သော တရားခံအစား အခြားသူအားသတ်ဖြတ်ခြင်း၊ သို့မဟုတ် လူသတ်မှု တရားခံနှင့်တကွ အပြစ်မရှိသောအခြားသူများကို သတ်ဖြတ်ခြင်း၊ သို့မဟုတ် သတ်ဖြတ်ရာတွင် လူသတ်မှု➤➤

وَلَا تَقْرَبُوا مَالَ الْيَتِيمِ إِلَّا بِالَّتِي هِيَ أَحْسَنُ حَتَّىٰ يَبْلُغَ أَشُدَّهُ ۚ وَأَوْفُوا بِالْعَهْدِ ۖ إِنَّ الْعَهْدَ كَانَ مَسْئُولًا ﴿٣٤﴾

၃၄။ ထိုမှတပါး အသင်တို့သည် ကောင်းမွန်သော နည်းလမ်းမှတပါး အဖမဲ့ကလေး သူငယ်များ၏ ဥစ္စာပစ္စည်း၏အပါးသို့ပင် ၎င်းတို့ လူလားမြောက် အရွယ်ရောက်သည်အထိ [၁] မချဉ်းကပ်ကြကုန်လင့်။ ထို့ပြင် အသင်တို့သည် (မိမိတို့ အချင်းချင်း တစ်ဖက်နှင့်တစ်ဖက် ထားရှိကြသော) ပဋိညာဉ်ကတိသစ္စာကို [J] ကျေပွန်စွာ ဆောင်ရွက်ကြလေကုန်။ ဧကန်စင်စစ် ယင်းပဋိညာဉ် ကတိသစ္စာသည် စစ်ဆေးမေးမြန်းခံရမည့် အမှုကိစ္စပင် ဖြစ်ချေသတည်း။

وَأَوْفُوا الْكَيْلَ إِذَا كِلْتُمْ وَزِنُوا بِالْقِسْطَاسِ الْمُسْتَقِيمِ ۚ ذَٰلِكَ خَيْرٌ وَأَحْسَنُ تَأْوِيلًا ﴿٣٥﴾

၃၅။ ၎င်းပြင် အသင်တို့သည် (မိမိတို့ ရောင်းချသောဝတ္ထုပစ္စည်း တစ်စုံတစ်ရာကို) တောင်း၊ တင်း၊ ခွက် (စသည့် ပမာဏ(ဖြင့်) ခြင်တွယ်၍(ရောင်းချ) သောအခါဝယ် အပြည့် ခြင်တွယ်၍ပေးကြလေကုန်။ ထိုမှတပါး အသင်တို့သည် (အလေးချိန်ခွင်ဖြင့် ချိန်တွယ်၍ ရောင်းချသောအခါတွင်လည်း) မှန်ကန်သော (အလေး)ချိန်ခွင်ဖြင့် ချိန်တွယ်(၍ပေး)ကြလေကုန်။ [၃] ဤသည်ကား (အသင်တို့အဖို့ ဤပစ္စက္ခမျက်မှောက် ဘဝ၌လည်း) အမွန်မြတ်ဆုံးပင် ဖြစ်ပေသည်။ (နောင်တမလွန်ဘဝ၏) အကျိုးဆက်အားဖြင့်လည်း အကောင်းဆုံးပင် ဖြစ်ချေသတည်း။

---

➤➤ တရားခံ၏ နား၊ မျက်စိ၊ နှာခေါင်း၊ ပါးစပ်စသည် အင်္ဂါများကို ဖြတ်တောက်၍ ရုပ်ပျက်ဆင်းပျက်ဖြစ်အောင် ပြုလုပ်ခြင်း၊ တရားတော်က သတ်မှတ်ထားသည့် စည်းကမ်း အတွင်း၌သာ သတ်စားသတ်ပိုင်ခွင့်ရှိသည်။ ထိုသည့်စည်းကမ်းထက်ကား မကျော်လွန်ရပေ။

(၁) **လူလားမြောက်ခြင်း**

မည်သည့်အသက်အရွယ်၌ လူလားမြောက်သနည်း။ ဤတွင် "ဖုကဟာ" ဓမ္မသတ်ရှင်များသည် အသက်အရွယ်ကို အမျိုးမျိုး ပိုင်းခြားသတ်မှတ်၍ ဖော်ပြထားကြသည်ကို တွေ့ရှိရသည်။ သို့ရာတွင် ဤသို့ အသက်အရွယ်ကို ပိုင်းခြားသတ်မှတ်ပြထားခြင်းသည် ခန့်မှန်းခြင်းသာဖြစ်သည်။ အမှန်မှာ အရွယ်ရောက်ခြင်း၊ လူလားမြောက်ခြင်းသည် တစ်နိုင်ငံနှင့်တစ်နိုင်ငံ လူမျိုးတစ်မျိုးနှင့်တစ်မျိုး မတူချေ။ တစ်ခါတစ်ရံ မိသားစုတစ်ခု အတွင်း၌ပင် တစ်ယောက်နှင့်တစ်ယောက် မတူချေ။ ထို့အတွက်ကြောင့် ကုရ်အာန်ကျမ်းမြတ်တွင် ➤➤

وَلَا تَقْفُ مَا لَيْسَ لَكَ بِهٖ عِلْمٌ ۭ اِنَّ السَّمْعَ وَالْبَصَرَ وَالْفُؤَادَ كُلُّ اُولٰۗىِٕكَ كَانَ عَنْهُ مَسْـُٔوْلًا ۝

၃၆။ ထို့ပြင်တစ်ဝ အသင်သည် မိမိမသိသော *အကြောင်းအရာ၏ နောက်သို့ မလိုက်လေနှင့်၊* [၁] ဧကန်မလွဲ နား၊ မျက်စိ၊ စိတ်နှလုံး ဤအသီးသီးတို့သည် ၎င်းအသီးသီးတို့နှင့် စပ်လျဉ်း၍ စုံစမ်းမေးမြန်းခြင်းကို ခံရမည်သာတည်း။

---

➤➤ ဤကိစ္စကို အတိအကျ မိန့်ဆိုထားတော်မမူခြင်း ဖြစ်ဟန်တူသည်။

အေ့မာန်အဗူဗတ်က်ရ် ရာဇီသခင်သည် လူလားမြောက်ခြင်းနှင့် စပ်လျဉ်း၍ အသက်အရွယ်အမျိုးမျိုးကို ထုတ်ဖော်ရေးသားပြီးနောက် အောက်ပါအတိုင်း ထုတ်ဖော်ရေးသားထားသည်။

ဆိုလိုသည်ကား လူလားမြောက်ခြင်းအတွက် အပိုအလိုမရှိသော ယတိပြတ် သတ်မှတ်ချက်မရှိပေ။ လူသားများသည် အချင်းချင်းမတူကြပေ။ လူတစ်ယောက် လူလားမြောက်သည့်အချိန်ပိုင်းတွင် အခြားပုဂ္ဂိုလ်တစ်ဦးသည် လူလားမမြောက်ပေ။ ဂျဆ္ဆာဆ္ဆ။

**(၂) ကတိတည်ရမည်။**

ဤအာယတ်တော်၌ ပါရှိသည့် "ကတိ"ဟူသော စကားတွင် အလ္လာဟ်အရှင်မြတ်နှင့် ထားရှိသော "ကတိ" နှင့် လူသားအချင်းချင်း ထားရှိသော "ကတိ" အားလုံး အကျုံးဝင်သည်။

**(၃) အလေး၊ တင်း၊ တောင်း မှန်ရမည်။**

လူ့သက်တမ်းတလျှောက်လုံးတွင် အရေးကိစ္စအဝဝ၌ သစ္စာသမာဓိသည် အလွန်အရေးကြီးပေသည်။ အလေး၊ တင်း၊ တောင်းမှန်ကန်မှုသည်လည်း သစ္စာသမာဓိပင်ဖြစ်သည်။ အလွန် အရေးကြီးပေသည်။

အလေးတင်းတောင်း မမှန်ကန်ပါက တိုင်းပြည်၏ စီးပွားရေးအခြေအနေ မတည်ငြိမ်နိုင်၊ ယိမ်းယိုင်လာပေမည်။ နောက်ဆုံး တိုင်းပြည်ပင် ပျက်စီးသွားနိုင်ပေသည်။

တမန်တော်ရှုအိုက်ဗ်၏ အမျိုးသားများသည် အလေး၊ တင်း၊ တောင်း မမှန်ကန်မှုအတွက်ကြောင့် ပျက်စီးသွားခဲ့ရသည့်အကြောင်း ကုရ်အာန်(၇း၈၅-၉၃၊ ၁၁း၈၄-၉၅၊ ၂၆း၁၇၆-၁၉၁)တွင် အတိအလင်းလာရှိပေသည်။ အလေးတင်းတောင်း စဉ်းလဲသောသူများသည် ပျက်စီးရမည့်အကြောင်း ကုရ်အာန်(၈၃း၁-၃)တွင်လည်း မိန့်ဆိုထားတော်မူသည်။

**(၁) အခိုင်အမာအတိအကျ မသိသောအရာ မပြုရာ။**

ဆိုလိုသည်ကား-အတိအကျ အခိုင်အမာ မသိသောအရာကို မပြောရာ၊ မပြုရာ၊ ဖွတ်မိုတ်မလိုက်ရာ။ အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား အံ့ချီးမဆုံးသော နား၊ မျက်စိ၊ စိတ် များကို ချီးမြှင့်ထားတော်မူသည်။ လူသားတို့သည် ထိုသည့် နား၊ မျက်စိ၊ စိတ်များကို စနစ်တကျ အသုံးပြုရမည်။ လေ့လာဆည်းပူးရမည်။ စူးစမ်းဆင်ခြင်ရမည်။ ဝေဖန်ပိုင်းခြား ဆုံးဖြတ်ရမည်။ မစဉ်းစား မဆင်ခြင်ဘဲ တစ်စုံတစ်ရာနှင့်စပ်လျဉ်း၍ မှားသည်၊ မှန်သည်၊ ဆိုးသည်၊ ကောင်းသည်ဟူ၍ အဆုံးအဖြတ်မပေးရာ။

ဤအာယတ်တော်တွင် မုသားသက်သေခံခြင်း၊ လုပ်ကြံစွပ်စွဲခြင်း၊ ကောလာဟလ စကားကြားရုံမျှဖြင့် သူတပါးအား ဒုက္ခပေးခြင်း၊ ရန်ငြိုးထားခြင်း၊ မိဘရိုးရာ ထုံးတမ်းစဉ်လာများကို လိုက်နာ၍ အစ္စလာမ်နှင့် ဆန့်ကျင်သော မမှန်သောစကားများကို ထောက်ခံခြင်း၊ မကြားဖူး မမြင်ဖူးသောအရာကို ကြားဖူး ➤➤

وَلَا تَمْشِ فِى الْأَرْضِ مَرَحًا ۚ إِنَّكَ لَن تَخْرِقَ الْأَرْضَ وَلَن تَبْلُغَ الْجِبَالَ طُولًا ﴿٣٧﴾

၃၇။ ၎င်းပြင် အသင်သည် ပထဝီမြေပြင်ဝယ် *ဟိတ်ဟန်ထုတ်၍ မလျှောက်လေနှင့်။* [၁] ဧကန်စင်စစ် အသင်သည် (ယင်းသို့ လမ်းလျှောက်ခြင်းအားဖြင့်) ပထဝီမြေကိုလည်း အလျင်းထွင်းဖောက် (ခွဲ)နိုင်မည် မဟုတ်ပေ။ ထိုမှတပါး အသင်သည် မိမိကိုယ်လုံး ကိုယ်ရပ် မြင့်မားခြင်းဖြင့် တောင်များကိုလည်း အလျင်းမီနိုင်မည် မဟုတ်ချေ။

كُلُّ ذَٰلِكَ كَانَ سَيِّئُهُۥ عِندَ رَبِّكَ مَكْرُوهًا ﴿٣٨﴾

၃၈။ ဤ(အမိန့်ပညတ်) အသီးသီးတို့ အနက် *မကောင်းမှုတို့မှာ* [၂] အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်တွင် စက်ဆုပ်ရွံရှာဖွယ်များ ပင် ဖြစ်ကုန်သတည်း။

---

➢➢ မြင်ဖူးသကဲ့သို့ ပြောဆိုခြင်း၊ လူသားတို့ မသိစွမ်းနိုင်သောအရာကို ငါသိသည်ဟု မုသားဝါကြွားပြောဆိုခြင်း စသည်တို့သည် အားလုံးအကျုံးဝင်ပေသည်။

နားလည်ထားအပ်သည်မှာ လူသားတို့သည် ၎င်းတို့အား ချီးမြှင့်ထားသော နား၊ မျက်စိ၊ စိတ်စသည့် စွမ်းရည်သတ္တိများနှင့်စပ်လျဉ်း၍ တရားသဖြင့် အသုံးပြုသည် မပြုသည်၊ အလွဲသုံးစား ပြုသည် မပြုသည်များကို ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ် စစ်ဆေးမေးမြန်းတော်မူမည်ဖြစ်သည်။

ဤသည့်အာယတ်တော်ကိုပင် လက်တွေ့လိုက်နာကျင့်သုံးပါက ယနေ့ လူ့လောကတွင် ဖြစ်ပေါ်နေသည့် မရေမတွက်နိုင်သောအမှုများသည် အလိုအလျောက် ပပျောက်သွားပေမည်။ ကြည့်-မာဂျိဒီ။

ဖုကဟာ ဓမ္မသတ်ရှင်များကလည်း ဤအာယတ်တော်ကို ထောက်ထားပြီး အစ္စလာမ်တရားတော်လာ အမိန့်ပညတ်ချက်များကို အခိုင်အမာမသိဘဲ အထင်နှင့် အလျင်းမပြောအပ်သည့်အကြောင်းနှင့် အခိုင်အမာမသိဘဲ သူတပါးအား မရိုးစွပ်အပ်ကြောင်း ရေးသားထားကြသည်။

(၁) **မမောက်မာရ၊ ခြေမထောက်ရ။**

လူသားတို့သည် ကမ္ဘာမြေပြင်တွင် ယဉ်ကျေးသိမ်မွေ့စွာ သွားလာနေထိုင်ရမည်။ မကြွားဝါရ၊ မမော်ရ၊ မမောက်မာရ၊ ခြေမထောက်ရ၊ ဟိတ်ဟန်မထုတ်ရ။

မောက်မာပလွား ဝါကြွားသူတို့အား အလ္လာဟ်အရှင်မြတ်အလျှင်း နှစ်သက်တော်မူသည်မဟုတ်။ လူသားတို့သည် အားအင်ကြီးမား လုသည်မဟုတ်၊ ချည့်နဲ့လုသည်။ "ခါချဉ်ကောင် မာန်ကြီးလို့ တောင်ကြီးဖြိုမယ့်ကြံ-ခါးကမသန်" ဆိုသကဲ့သို့ လူသားတို့သည် မောက်မာက မှောက်မည်သာဖြစ်သည်။ အီဗ်လီစ်သည် မောက်မာခဲ့သည့်အတွက် အမှောက်ကြီးမှောက်ခဲ့လေပြီ။

(၂) အထက်တွင် ရှောင်ကြည်ရန် ပညတ်တော် (၁၅) ပါးကို မိန့်ဆိုထားတော်မူသည်။ ထိုသည့် ပညတ်တော်များကို ကျူးလွန်သူတို့အား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာမှ စက်ဆုပ်ရွံ့ရှာတော်မူသည်။ ➢➢

ذٰلِكَ مِمَّآ اَوۡحٰۤى اِلَيۡكَ رَبُّكَ مِنَ الۡحِكۡمَةِ ؕ وَلَا تَجۡعَلۡ مَعَ اللّٰهِ اِلٰهًا اٰخَرَ فَتُلۡقٰى فِىۡ جَهَنَّمَ مَلُوۡمًا مَّدۡحُوۡرًا ﴿۳۹﴾

၃၉။ ဤသည်တို့ကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် ဉာဏ်ပညာများအနက်မှ အသင့်ထံသို့ ထုတ်ပြန်တော်မူသော အမိန့်ပညတ်တော်များပင်ဖြစ်ကုန်၏။ သို့ဖြစ်ရာ အသင်သည် အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲ၍ အခြားကိုးကွယ်ရာ တစ်စုံတစ်ရာကိုမျှ (တွဲဖက်ကိုးကွယ်ခြင်းကို)မပြုလေနှင့်။ သို့ပြုခဲ့သော် အသင်သည် ဂျဟန္နမ်ငရဲဘုံ၌ ပြစ်တင်ရှုတ်ချခြင်းခံရလျက်၊ ကရုဏာတော်မှ ကင်းဝေးစေခြင်းခံရလျက် ပစ်ချခြင်းခံရအံ့သတည်း။

اَفَاَصۡفٰٮكُمۡ رَبُّكُمۡ بِالۡبَنِيۡنَ وَاتَّخَذَ مِنَ الۡمَلٰۤٮِٕكَةِ اِنَاثًا ؕ اِنَّكُمۡ لَتَقُوۡلُوۡنَ قَوۡلًا عَظِيۡمًا ﴿۴۰﴾

၄၀။ အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် အသင်တို့အား ထူးခြားစွာ သားယောကျ်ားကလေးများကိုသာ ချီးမြှင့်တော်မူ၍ မိမိကိုယ်တော်တိုင်မှာမူကား မလာအိကဟ် ကောင်းကင်တမန်တို့အား သမီးမိန်းကလေးများအဖြစ် မွေးစားတော်မူထားပါသလော။ စင်စစ်မလွဲ အသင်တို့သည် ကြီးကျယ်လွန်မင်းသောစကားကို ပြောဆိုကြကုန်သတည်း။

وَلَقَدۡ صَرَّفۡنَا فِىۡ هٰذَا الۡقُرۡاٰنِ لِيَذَّكَّرُوۡا ؕ وَمَا يَزِيۡدُهُمۡ اِلَّا نُفُوۡرًا ﴿۴۱﴾

၄၁။ ၎င်းပြင် မချွတ်မလွဲ ငါအရှင်မြတ်သည် ဤကုရ်အာန်ကျမ်းတော်မြတ်တွင် (လူခပ်သိမ်းတို့) တရားရအံ့သောငှာ (ကိုးကွယ်ရာအရှင် တဆူတည်းဖြစ်တော်မူကြောင်းကို) နည်းအမျိုးမျိုးဖြင့် ပြောင်းလဲမိန့်ကြားတော်မူခဲ့သည်။

>> ထိုသည့်ပညတ်တော်များကို အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်ထံသို့လည်းကောင်း၊ တမန်တော်မြတ်မှတဆင့် တမန်တော်မြတ်၏ "အွန်မ္မတ်" တပည့်သားတို့ထံသို့လည်းကောင်း အထူးတလည် ထုတ်ပြန် ပို့ချထားတော်မူသည်။ ထိုသည့် ပညတ်တော်များသည် ပညာပါသော ယဉ်ကျေးသိမ်မွေ့သော ပညတ်တော်များဖြစ်သည်။ ထို့အတွက် အမြော်အမြင်ရှိသူတိုင်း လိုက်နာကျင့်သုံး ရမည်သာတည်း။

ယင်းသည့် အာယတ်တော်များ၏အစတွင် "တောင်ဟီဒ်"ကို မိန့်ဆိုထားတော်မူသည်။ အဆုံးတွင်လည်း "တောင်ဟီဒ်"ကို မိန့်ဆိုထားတော်မူသည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် "တောင်ဟီဒ်"သည် အဘယ်မျှ အရေးကြီးသည် ကုသိုလ်ရေး ကိစ္စအဝဝသည် တောင်ဟီဒ်အပေါ်၌သာ တည်ရှိနေသည်များကို ကောင်းစွာ သိရှိနိုင်ပေသည်။

သို့ရာတွင် ယင်းပြောင်းလဲမိန့်ကြားမှုသည် ၎င်း(မုရှ်ရစ်က်)တို့၌ စက်ဆုပ်မှုကိုသာ တိုးပွားစေခဲ့လေသည်။

قُلْ لَّوْ كَانَ مَعَهٗٓ اٰلِهَةٌ كَمَا يَقُوْلُوْنَ اِذًا لَّابْتَغَوْا اِلٰى ذِى الْعَرْشِ سَبِيْلًا ﴿٤٢﴾

၄၂။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) ပြောကြားပါလေ။ အကယ်၍သာ ယင်း(မုရှ်ရစ်က်)တို့ ပြောဆိုသည့်အတိုင်း ထို(အလ္လာဟ်)အရှင်မြတ်နှင့်အတူ *အခြား ကိုးကွယ်ရာများလည်း ရှိကြပါလျှင်* [၁] ဧကန်မလွဲ ၎င်းတို့သည် အရ်ရှ်ပလ္လင်တော်ကို စိုးပိုင်တော်မူသောအရှင်မြတ်အထံတော်သို့ (သွားရောက်တိုက်ခိုက်ရန်) နည်းလမ်းရှာဖွေခဲ့ကြပြီး ဖြစ်အံ့သတည်း။

سُبْحٰنَهٗ وَتَعٰلٰى عَمَّا يَقُوْلُوْنَ عُلُوًّا كَبِيْرًا ﴿٤٣﴾

၄၃။ ထိုအရှင်မြတ်သည် စင်ကြယ်သန့်ရှင်းတော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည် ယင်း(မုရှ်ရစ်က်)တို့ ပြောဆို(စွပ်စွဲ)ကြသည်တို့ထက် သာလွန်ထူးကဲမြင့်မြတ်လှတော်မူပေသတည်း။

تُسَبِّحُ لَهُ السَّمٰوٰتُ السَّبْعُ وَالْاَرْضُ وَمَنْ فِيْهِنَّ ۭ وَاِنْ

၄၄။ မိုးခုနစ်ထပ်သည်လည်းကောင်း၊ ပထဝီမြေသည်လည်းကောင်း၊ ထိုမိုးများနှင့် ပထဝီမြေ၌ရှိသူတို့သည်လည်းကောင်း၊ ထိုအရှင်မြတ် စင်ကြယ်သန့်ရှင်းတော်မူကြောင်း ပွားများ သရဇ္ဈာယ်လျက် ရှိကြကုန်၏။

---

(၁) အချို့ မုရှ်ရစ်က်များထင်မှတ်သကဲ့သို့ အကယ်၍ အလ္လာဟ်အရှင်မြတ်အပြင် အခြားကိုးကွယ်ရာ ဘုရားများရှိလျှင် ယင်းကိုးကွယ်ရာများသည် (မပြောအပ်မဆိုအပ်) အလ္လာဟ်အရှင်မြတ်နှင့် ဂုဏ်ရည်တူများသော်လည်း ဖြစ်ကြရမည်။ သို့မဟုတ် ထိုအရှင်မြတ်ထက် နိမ့်ကျသူများသော်လည်း ဖြစ်ကြရမည်။

အခြားကိုးကွယ်ရာဘုရားများသည် အလ္လာဟ်အရှင်မြတ်နှင့် ဂုဏ်ရည်တူများဖြစ်ကြလျှင် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်ပြိုင်ကြပေမည်။ သို့ယှဉ်ပြိုင်ကြလျှင် ဤစကြာဝဠာကြီးသည် မုချပျက်စီးသွားပေမည်။ ယခုမူ ဤစကြာဝဠာကြီးသည် ရပ်တည်လျက်ရှိပေသည်။ ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်၌ ဂုဏ်ရည်တူဟူ၍ တစ်ဦးတစ်ယောက်မျှ မရှိကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။

အခြားကိုးကွယ်ရာများသည် အလ္လာဟ်အရှင်မြတ်ထက် နိမ့်ကျပြီး အခြား သက်ရှိသက်မဲ့တို့ကဲ့သို့ပင် အလ္လာဟ်အရှင်မြတ်အား မှီခိုအားထား ခယရိုကျိုးရှိခိုးနေကြရပါလျှင် ယင်းသို့သော ကိုးကွယ် ရာတို့အား ကျွန်ုပ်တို့သည် ချဉ်းကပ်ကိုးကွယ်ရန်အကြောင်း အလျှင်းမရှိပေ။ အလ္လာဟ်အရှင်မြတ်အား တိုက်ရိုက် ➤➤

مِّن شَىْءٍ إِلَّا يُسَبِّحُ بِحَمْدِهِۦ وَلَٰكِن لَّا تَفْقَهُونَ تَسْبِيحَهُمْ ۗ إِنَّهُۥ كَانَ حَلِيمًا غَفُورًا ﴿٤٤﴾

အမှန်စင်စစ် (သက်ရှိသက်မဲ့) အရာဝတ္ထုအလုံးစုံတို့သည် ထိုအရှင်မြတ်အား ချီးမွမ်းထောပနာပြုခြင်းနှင့်တကွ စင်ကြယ်သန့်ရှင်းတော်မူကြောင်း ပွားများသရဇ္ဈာယ်လျက်ပင် ရှိကြကုန်သည်။ သို့ရာတွင် အသင်တို့မှာမူကား ၎င်းတို့၏ *ပွားများသရဇ္ဈာယ်မှုကို နားမလည်ကြချေ။* [၁] ဧကန်စင်စစ် ထိုအရှင်မြတ်သည် အလွန်တရာ သည်းခံတော်မူသောအရှင်၊ အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَإِذَا قَرَأْتَ ٱلْقُرْءَانَ جَعَلْنَا بَيْنَكَ وَبَيْنَ ٱلَّذِينَ لَا يُؤْمِنُونَ بِٱلْءَاخِرَةِ حِجَابًا مَّسْتُورًا ﴿٤٥﴾

၄၅။ ၎င်းပြင် (အိုး-နဗီတမန်တော်) အသင်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို ရွတ်ဖတ်သရဇ္ဈာယ်သော အခါ ငါအရှင်မြတ်သည် အသင်နှင့်နောင်တမလွန်ဘဝကို မယုံကြည်သောသူတို့၏အကြားဝယ် လျှို့ဝှက်လျက်ရှိသော အကာအဆီးကို ချထားတော်မူပေသတည်း။ [၂]

---

➤➤ ကိုးကွယ်ရန် သာရှိသည်။ အစ္စလာမ်သာသနာသည် အလ္လာဟ်အရှင်မြတ်အား ဤသို့ တိုက်ရိုက်ကိုးကွယ်ခြင်းကိုသာ အလိုရှိသည်။

(၁) စကြာဝဠာအဝှမ်းရှိ သက်ရှိသက်မဲ့ အားလုံးတို့သည် နှုတ်လျှာဖြင့်ဖြစ်စေ၊ အနေအထား အခြေအနေအားဖြင့်ဖြစ်စေ၊ တစ်နည်းတစ်ဖုံ အလ္လာဟ်အရှင်မြတ်အား ချီးမွမ်းထောပနာလျက် ရှိကုန်၏။ သို့ရာတွင် ၎င်းတို့၏ ချီးမွမ်းထောမနာခြင်းကို ကာဖိရ်၊ မုရှ်ရစ်က်တို့ မသိနားမလည်ကြပေ။

ယင်းသို့ မသိနားမလည်ကြသည်မှာ မစဉ်းစားမဆင်ခြင်သည့် အတွက်ကြောင့်လည်း ဖြစ်နိုင်၏။ သို့တည်းမဟုတ် ယင်းသည့် ချီးမွမ်းထောပနာခြင်းကို စဉ်းစားဆင်ခြင်နိုင်စွမ်း မရှိသည့်အတွက်ကြောင့်လည်း ဖြစ်နိုင်ပေသည်။

အကယ်၍ လူသားတစ်ဦးသည် သိရှိပါလျက် လက်မခံပါသော် သို့တည်းမဟုတ် မိမိသိရှိ နားလည်ထားသည့်အလျောက် လိုက်နာ ကျင့်ဆောင်အပ်သည်များကို မလိုက်နာ မကျင့်ဆောင်သော် ဤသို့သောသိရှိနားလည်ခြင်းသည်လည်း မသိနားမလည်ခြင်းနှင့် မည်သို့မျှ မခြားပေ။ အတူတူပင်ဖြစ်ချေသည်။

(၂) **ကုရ်အာန်နှင့် ကာဖိရ်**

အကြင်တဦးသူသည် နောင်တမလွန်ဘဝကိုလည်း ယုံကြည်သည်မရှိ၊ ကောင်းမှု မကောင်းမှုတို့၏ ကျိုးပြစ် ခံစံရမည်ကိုလည်း တွေးတောပူပန်သည်မရှိ၊ ထိုသို့သောသူသည် အသို့လျှင် တရားဒေသနာတော်ကို နားထောင်အံ့နည်း၊ ငရဲမီးဘေးမှလွတ်မြောက်ရန်ပင် အပူအပင်မရှိသော သူတစ်ဦးသည် ငရဲမီးဘေးမှ ကယ်တင်ပေးမည့် တမန်တော်မြတ်၏ အဆုံးအမသြဝါဒများကို အသို့လျှင် နာခံအံ့နည်း။ ထိုသို့သောသူသည် ➤➤

၄၆။ ထိုမှတပါး ငါအရှင်မြတ်သည် ၎င်းတို့၏ စိတ်နှလုံးများပေါ်၌ ၎င်းတို့သည် ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို နားလည်ကြမည်ကိုစိုး၍ အဖုံးအအုပ်ဖုံးပေးတော်မူသည်။ ၎င်းပြင် ထိုသူတို့၏နားများကိုလည်း ပင်းစေတော်မူသည်။ သို့ရာတွင် အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်တဆူတည်းကိုသာ ကုရ်အာန်ကျမ်းတော်မြတ်တွင် သတိရသောအခါ၌မူကား ၎င်းတို့သည် စက်ဆုပ်၍ မိမိတို့ နောက်ကျောဘက်သို့ ပြန်လှည့်၍ ထွက်ခွာသွားကြသည်။

وَّجَعَلْنَا عَلٰى قُلُوْبِهِمْ اَكِنَّةً اَنْ يَّفْقَهُوْهُ وَفِيْٓ اٰذَانِهِمْ وَقْرًا ۭ وَاِذَا ذَكَرْتَ رَبَّكَ فِي الْقُرْاٰنِ وَحْدَهٗ وَلَّوْا عَلٰٓي اَدْبَارِهِمْ نُفُوْرًا ؀

၄၇။ ထိုသူတို့သည် အသင်ဘက်သို့ နားစွင့်ကြ၍ မည်သည့်အကြောင်းကြောင့် (ယင်းကုရ်အာန်ကျမ်းတော်ကို) နားထောင်ကြသည်ကိုလည်းကောင်း၊ ထိုမှတပါး ထိုသူတို့သည် (အချင်းချင်း) လျှို့ဝှက်စွာ ပြောဆိုတိုင်ပင်ကြသောအခါ "အသင်တို့သည် စုန်းပြုစားခြင်းခံရသောသူ၏ နောက်သို့လိုက်နေကြသည်" ဟု ပြောဆိုကြသည်ကိုလည်းကောင်း၊ ငါအရှင်မြတ်သည် ကောင်းစွာ သိရှိတော်မူသည်။

نَحْنُ اَعْلَمُ بِمَا يَسْتَمِعُوْنَ بِهٖٓ اِذْ يَسْتَمِعُوْنَ اِلَيْكَ وَاِذْ هُمْ نَجْوٰٓى اِذْ يَقُوْلُ الظّٰلِمُوْنَ اِنْ تَتَّبِعُوْنَ اِلَّا رَجُلًا مَّسْحُوْرًا ؀

➤➤ တမန်တော်မြတ်၏အကျင့်အမူများကိုလည်း အသိုလျှင်အတုခိုးအံ့နည်း။ ထိုသို့သောသူ၌ တမန်တော်မြတ်အား ချဉ်းကပ်ရန်အကြောင်းပင် မရှိပေ။ အမှန်မှာ နောင်တမလွန်ဘဝကို မယုံကြည်ခြင်း၊ နောင်ရေးအတွက် မပူပန်ခြင်းသည်ပင် ထိုသူနှင့် တမန်တော်မြတ်၏စပ်ကြားတွင် အကာအဆီးကြီးဖြစ်လျက်ရှိချေပြီ။

ထိုသို့သောသူသည် တမန်တော်မြတ်ထံ ချဉ်းကပ်မည်လည်းမဟုတ်ပေ။ ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို နားလည်ရန်ကြိုးစားမည်လည်းမဟုတ်ပေ။ ကုရ်အာန်ကျမ်းမြတ်သည် ထက်မြက်လှ၏။ ထိရောက်လှ၏။ အကျိုးသက်ရောက်လှ၏။ သို့ရာတွင် အထက်တွင်ဖော်ပြပါ ကာဖိရ်မျိုးကား ကုရ်အာန်ကျမ်းလာ ဒေသနာတော်များဖြင့် အကျိုးမခံစားပေ။ အဘယ်ကြောင့်ဆိုသော် ယင်းသို့သော ကာဖိရ်များသည် မိမိတို့ကိုယ်တိုင် မိမိတို့ကိုယ်ကို ကုရ်အာန်၏ ဓမ္မရောင်ခြည်နှင့် ကင်းကွာအောင် ပြုလုပ်ထားခြင်းကြောင့်ပင်ဖြစ်သည်။

ဤအာယတ်တော်များတွင် အလ္လာဟ်အရှင်မြတ်သည် ထိုသို့သော ကာဖိရ်များနှင့် တမန်တော်မြတ်၏ စပ်ကြားတွင် အကာအဆီး ပြုလုပ်ထားတော်မူသည့်အကြောင်း၊ ၎င်းတို့၏စိတ်နှလုံးများ အပေါ်တွင် အဖုံးအအုပ်များ ပြုလုပ်ထားတော်မူသည့် အကြောင်းပါရှိ၏။ ကာဖိရ်များသည် ဤသို့ဖြစ်ရသည်ကိုပင် ဂုဏ်ယူစွာဖြင့် ၎င်းတို့ကိုယ်တိုင် ထုတ်ဖော်ပြောဆိုခဲ့ကြပေသည်။ ကြည့်-ကုရ်အာန် (၄၁:၅)။

انْظُرْ كَيْفَ ضَرَبُوا لَكَ الْأَمْثَالَ فَضَلُّوا فَلَا يَسْتَطِيعُونَ سَبِيلًا ﴿٤٨﴾

၄၈။ (အို-နဗီတမန်တော်) ၎င်းတို့သည် အသင်နှင့် ပတ်သက်၍ မည်သို့သော ပုံဆောင်ချက်များကို ခိုင်းနှိုင်း ခဲ့ကြသည်ကို အသင်ရှုပါလေ။ ထို့ကြောင့်ပင် ၎င်းတို့ သည် လမ်းလွဲခဲ့ကြချေပြီ။ သို့ဖြစ်ပေရာ ၎င်းတို့သည် မည်သည့်(ထွက်)လမ်းကိုမျှပင် တွေ့ရှိနိုင်ကြတော့မည် မဟုတ်ပေ။ ၁

وَقَالُوا أَإِذَا كُنَّا عِظَامًا وَرُفَاتًا أَإِنَّا لَمَبْعُوثُونَ خَلْقًا جَدِيدًا ﴿٤٩﴾

၄၉။ ထို့ပြင် ၎င်းတို့က အသို့ပါနည်း၊ ကျွန်ုပ်တို့သည် အရိုးများသာကျန်ရှိ၍ စိစိကြေညက်လျက်ရှိကြသော အခါ အသစ်ဖန်ဆင်း၍ ရှင်ပြန်ထစေခြင်းကို ခံကြရဦး မည်လောဟု ပြောဆိုမေးမြန်းကြကုန်၏။

قُلْ كُونُوا حِجَارَةً أَوْ حَدِيدًا ﴿٥٠﴾

၅၀။ (အို-နဗီတမန်တော်) အသင်သည်(၎င်းတို့အား ဤသို့) ပြောဆို ဖြေကြားပါလေ။ အသင်တို့သည် *ကျောက်ခဲသော်လည်းကောင်း၊ သံခဲသော်လည်းကောင်း၊ ဖြစ်ကြလေကုန်။* ၂

---

(၁) အရဗ်ကာဖိရ်၊ မုရှ်ရစ်က်များသည် တမန်တော်မြတ်ဘက်မှ လူထု၏အာရုံကို လွှဲပြောင်းပစ်ရန်အတွက် တမန်တော်မြတ်အား တစ်ခါတစ်ရံ စာဆိုတော်ဟူ၍လည်းကောင်း၊ တစ်ခါတစ်ရံ စုန်းကဝေဟူ၍လည်းကောင်း၊ တစ်ခါတစ်ရံ ဗေဒင်ဆရာ၊ အနာဂတ်ဟောဆရာဟူ၍လည်းကောင်း၊ တစ်ခါတစ်ရံ စုန်းပြုစားခြင်းခံရသူဟူ၍ လည်းကောင်း၊ တစ်ခါတစ်ရံ သူရူးဟူ၍လည်းကောင်း၊ အမျိုးမျိုး စွပ်စွဲပုတ်ခတ်ပြောဆိုခဲ့ကြသည်။ ယင်းသို့ တမန်တော်မြတ်အား ကိုယ်စွမ်းရှိသမျှ၊ ဉာဏ်စွမ်းရှိသမျှ စွပ်စွဲ ပြောဆိုခဲ့ကြသော်လည်း ၎င်းတို့၏အကြံအစည်သည် မည်သို့မျှ မအောင်မြင်ခဲ့ပေ။

အရဗ်ကာဖိရ် မုရှ်ရစ်က်များက ယင်းကဲ့သို့ တမန်တော်မြတ်အား မဟုတ်မမှန် လုပ်ကြံစွပ်စွဲပြောဆိုခြင်း မှာ အံ့ဖွယ်ပင်။ ထိုထက်ပင်ပိုမို၍ အံ့သြဖွယ်ကောင်းသည်မှာ တမန်တော်မြတ်နှင့်ပတ်သက်၍ ၎င်းတို့စွပ်စွဲ ပြောဆိုသောစကားများကို အမှန်ဟူ၍ ထင်မှတ်စေရန်အတွက် တင်ပြသော အကြောင်းပြချက်များပင် ဖြစ်သည်။

(၂) ကာဖိရ် မုရှ်ရစ်က်တို့၏ အကြောင်းပြချက်နှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်က ဖြေကြားထားတော်မူသည်မှာ သူသေအလောင်း၏ ပုံ့နှံ့ပျောက်ပျက်၍ မြေမှုန့်ဖြစ်သွားသော အစအန အမှုန်ကလေးများသည် အသို့ပင်ဖြစ်စေကာမူ လူသေ၏အစအန အမှုန်ကလေးများပင်ဖြစ်သည်။ တချိန်က ယင်းသည့်အစအနအမှုန်ကလေးများတွင် အသက် ရှိခဲ့ပေသည်။ မြေကြီး၏အစအနများတွင် အသက်ရှင်ခြင်း၏ နိမိတ်လက္ခဏာ ပေါ်ပေါက်လာခြင်းမှာ မဖြစ်နိုင်သောကိစ္စမဟုတ်ပေ။ ထို့ပြင်တစ်ဝ မြေ၏အစအနအမှုန် သာမက မျက်မြင်အားဖြင့် အသက်ရှင်မှုကို အလျင်း လက်မခံသော ကျောက်ဖြစ်ပါစေ၊ သံဖြစ်ပါစေ၊ သို့မဟုတ် ထို့ထက်ပင် အသက်ရှင်ရန် ➤➤

أَوْ خَلْقًا مِّمَّا يَكْبُرُ فِي صُدُورِكُمْ فَسَيَقُولُونَ مَن يُعِيدُنَا قُلِ الَّذِي فَطَرَكُمْ أَوَّلَ مَرَّةٍ فَسَيُنْغِضُونَ إِلَيْكَ رُءُوسَهُمْ وَيَقُولُونَ مَتَىٰ هُوَ قُلْ عَسَىٰ أَن يَكُونَ قَرِيبًا ﴿٥١﴾

၅၁။ သို့တည်းမဟုတ် အသင်တို့၏ စိတ်နှလုံး၌ အဖန်ဆင်းခံများအနက်မှ အလွန် ကြီးကျယ်လှသည်ဟု (အသင်တို့) ထင်မြင်ယူဆသော အရာဝတ္ထု တစ်စုံတစ်ရာ ဖြစ်ကြလေကုန်။ သို့ဖြစ်လျှင်လည်း (ထိုအရှင်မြတ်သည် ရှင်စေတော်မူနိုင်သည်။) ထို့နောက် ၎င်းတို့က မည်သူသည် ကျွန်ုပ်တို့အား ရှင်ပြန်ထစေမည်နည်းဟု ပြောဆိုကြဦးအံ့။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား) အသင်တို့အား ပထမအကြိမ် ဖန်ဆင်းတော်မူခဲ့သောအရှင်မြတ်သည်ပင်လျှင် (ရှင်ပြန်ထစေတော်မူအံ့ဟု) ပြောဆိုဖြေကြားပါလေ။

ထိုအခါ ၎င်းတို့သည် အသင်၏ရှေ့ဝယ် မိမိတို့၏ဦးခေါင်းများကို (အံ့သြစွာ)ခါ၍ ယင်းရှင်ပြန်ထစေခြင်းသည် *မည်သည့်အခါ၌ ဖြစ်အံ့နည်းဟု* [၁] ပြောဆိုကြဦးပေမည်။ အသင်သည် (၎င်းတို့အား) ထို(အချိန်)သည် နီးကပ်ပြီ ဖြစ်ဟန်တူသည်ဟု ပြောဆိုဖြေကြားပါလေ။

---

➤➤ ခဲယဉ်းသောအရာဖြစ်ပါစေ၊ အသို့ပင်ဖြစ်စေကာမူ အနန္တတန်ခိုးတော်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် လွယ်ကူစွာဖြင့်ပင် အသက်ရှင်စေတော်မူနိုင်ပေသည်။ ထိုအရှင်မြတ်သည် လူသားတို့အား မြေဖြင့် စတင်ဖန်ဆင်းတော်မူခဲ့၏။ သုတ်ရည်တစ်စက်ဖြင့် ပွားများစေတော်မူခဲ့၏။ အသိတရားအလျှင်း မရှိသောပစ္စည်းတွင် အသက်သွင်းပေးတော်မူခဲ့၏။ ထိုသို့ ပြုစွမ်းတော်မူနိုင်သော အလ္လာဟ်အရှင်မြတ်အဖို့ သူသေများ၏ အစအန အမှုန်များတွင် ပြန်လည်အသက်သွင်းခြင်းကား အသို့လျှင် အခက်အခဲရှိနိုင်အံ့နည်း။ အခက်အခဲအလျှင်းမရှိပေ။ အရာတစ်ခုကို စတင်ဖန်ဆင်းတော်မူသော အရှင်မြတ်အဖို့ ထိုအရာကိုပြန်လည်ဖန်ဆင်းရန် အသို့လျှင် အခက်အခဲ ရှိနိုင်အံ့နည်း။

(၁) ကာဖိရ်၊ မုရှ်ရစ်က်တို့က "မည်သည့်အခါ ကိယာမတ်ဖြစ်မည်နည်း"ဟု မေးကြသည်။ ကိယာမတ်သည် တချိန်သော် မုချဖြစ်မည်။ ဤတွင် ဒွိဟသံသယအလျှင်းမရှိ၊ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် ကိယာမတ်ဖြစ်မည့်အချိန် အတိအကျကို မည်သူ့အားမျှ အသိပေးထားတော်မူသည်မရှိ။ ကြည့်-ကုရ်အာန် (၃၁:၃၄)။

သို့ပါသော်လည်း ကိယာမတ်သည် မဝေးလှသည့် အနာဂတ်တွင် ဖြစ်တော့မည်ဟူ၍ကား မျှော်လင့်နိုင်ပေသည်။ တစ်နည်းအားဖြင့် ဤစကြာဝဠာကြီး၏ ကျန်ရှိသော သက်တမ်းသည် ကျော်လွန် ကုန်ဆုံးသွားခဲ့သော် သက်တမ်းထက်ကား လျော့နည်းလျက်ရှိချေပြီ။

يَوْمَ يَدْعُوكُمْ فَتَسْتَجِيبُونَ بِحَمْدِهِ وَتَظُنُّونَ إِن لَّبِثْتُمْ إِلَّا قَلِيلًا ﴿٥٢﴾

၅၂။ အကြင်နေ့တွင် ထိုအရှင်မြတ်သည် အသင်တို့အား ခေါ်တော်မူမည်။ ထိုအခါ အသင်တို့သည် ထိုအရှင်မြတ်အား *ချီးမွမ်းကာထူးကြပေမည်။* [၁] (အမိန့်တော် နာခံကြပေမည်။) ထို့ပြင် အသင်တို့သည် မိမိတို့မှာ (လူ့လောကတွင်) အနည်းငယ်မျှသာနေခဲ့ကြသည်ဟု ထင်မြင်ယူဆကြပေမည်။

وَقُل لِّعِبَادِي يَقُولُوا الَّتِي هِيَ أَحْسَنُ ۚ إِنَّ الشَّيْطَانَ يَنزَغُ بَيْنَهُمْ ۚ إِنَّ الشَّيْطَانَ كَانَ لِلْإِنسَانِ عَدُوًّا مُّبِينًا ﴿٥٣﴾

၅၃။ ၎င်းပြင် (အို-နဗီတမန်တော်) ငါအရှင်မြတ်၏ (မုအ်မင်န်) ကျွန်များအား *အကောင်းဆုံးသော စကားကိုသာ ပြောဆိုကြရန်* [၂] အသင်ပြောကြားပါလေ။ ဧကန်အမှန် ရှိုင်တွာန်မိစ္ဆာကောင်သည် ၎င်းတို့၏ စပ်ကြားတွင် နှောင့်ယှက် ဖျက်ဆီးလေ့ရှိပေသည်။ မလွဲဧကန် ရှိုင်တွာန်မိစ္ဆာကောင်သည် မနုဿလူသားတို့၏ အလွန်ထင်ရှားသောရန်သူပင် ဖြစ်ချေသတည်း။

---

(၁) အလ္လာဟ်အရှင်မြတ်ထံတော်မှ အသံပြုတော်မူသည့်အခါ သေနေသူအပေါင်းတို့သည် ရှင်ပြန်ထပြီး ကမ္ဘာ့စုရုံးရာဌာနဖြစ်သော မဟ်ရှရ် ကွင်းပြင်ကြီးသို့ အသီးသီး လာရောက်ပေမည်။ ထိုအချိန်တွင် ကာဖိရ်၊ မုအ်မင်န်မခြား လူတိုင်းလူတိုင်းသည် အမိန့်တော်ကိုနာခံလျက် အလ္လာဟ်အရှင်မြတ်အား ချီးမွမ်းထောပနာပြုလျက်ရှိပေမည်။

ထိုအချိန်တွင် ကာဖိရ်၊ မုရှ်ရစ်က်တို့၏ ချီးမွမ်းထောမနာပြုခြင်းသည် မလွဲမရှောင်၍ ချီးမွမ်းထောမနာပြုခြင်းမျိုးသာ ဖြစ်သည့်အတွက် ၎င်းတို့အဖို့ အကျိုးအလျင်းရှိမည်မဟုတ်ပေ။ အချို့ရိဝါယတ် ကျမ်းချက်များတွင် လာရှိသည်မှာ ကိယာမတ်နေ့တွင် မုအ်မင်န်တို့သည် ( الْحَمْدُ لِلَّهِ الَّذِي أَذْهَبَ عَنَّا الْحَزَنَ ) ဟူ၍ ချီးမွမ်းထောမနာ ပြုလျက်ရှိကြပေမည်။ ကြည့်-ကုရ်အာန်(၃၅:၃၄-၃၅)။

(၂) **ကြမ်းကြုတ်သောစကားမဆိုရာ။**

ဆိုလိုသည်ကား မွတ်စ်လင်မ်များသည် ကာဖိရ်၊ မုရှ်ရစ်က်တို့အား တုံ့ပြန်ချေပပြောဆိုရာ၌ ဖရုသဝါစာ ကြမ်းကြုတ်သောစကားကို မပြောဆိုရာ။ ကောင်းမွန် မြင့်မြတ်သောစကား၊ ယဉ်ကျေး သိမ်မွေ့သောစကားကိုသာ ပြောဆိုရာ၏။ အဘယ်ကြောင့်ဆိုသော် ရှိုင်တွာန်သည် ကြမ်းကြုတ်သော စကားများကို ပြောဆိုစေပြီးလျှင် အချင်းချင်း ခိုက်ရန် ဖြစ်ပွားစေလေ့ရှိသည်။ အမှန်မှာ ရှိုင်တွာန်သည် လူသားတို့၏ မဟာရန်သူကြီးပင်ဖြစ်ပေသည်။

ကြမ်းကြုတ်သောစကား ပြောဆိုခြင်းဖြင့် အကျိုးမရှိ၊ အရှုံးသာရှိသည်။ အလ္လာဟ်အရှင်မြတ်သည် အလုံးစုံကိုသိတော်မူသော ဉာဏ်တော်ရှင်ဖြစ်တော်မူသည်။ လူသားအားလုံးတို့၏ အကြောင်းများကို အကြွင်းမဲ့ သိတော်မူသည်။ လူသားအားလုံးတို့အား ထိုက်တန်ရာများတွင် အသီးသီး နေရာချထားပေးတော်မူသည်။ မိမိအလိုတော်အတိုင်း သနားတော်မူသည်၊ ပြစ်ဒဏ်ခတ်တော်မူသည်။ ထို့ပြင်တဝ တမန်တော်မြတ်သည်ပင် ➤➤

رَبُّكُمْ أَعْلَمُ بِكُمْ إِن يَشَأْ يَرْحَمْكُمْ أَوْ إِن يَشَأْ يُعَذِّبْكُمْ وَمَا أَرْسَلْنَاكَ عَلَيْهِمْ وَكِيلًا ﴿٥٤﴾

**၅၄။** အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် အသင်တို့အား အကြွင်းမဲ့ သိတော်မူသော အရှင်မြတ်ပင်။ အကယ်၍ ထိုအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် အသင်တို့အား သနားတော်မူပေမည်။ သို့တည်းမဟုတ် အကယ်၍ ထိုအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် အသင်တို့အား ပြစ်ဒဏ်ခတ်တော်မူပေမည်။ စင်စစ် (အို-နဗီတမန်တော်) ငါအရှင်မြတ်သည် အသင့်အား ၎င်းတို့အပေါ်၌ ကြီးကြပ် အုပ်ထိန်းသူ(တာဝန်ခံ)အဖြစ် စေလွှတ်တော်မူသည်မဟုတ်ပေ။

وَرَبُّكَ أَعْلَمُ بِمَن فِي السَّمَاوَاتِ وَالْأَرْضِ وَلَقَدْ فَضَّلْنَا بَعْضَ النَّبِيِّينَ عَلَىٰ بَعْضٍ وَآتَيْنَا دَاوُودَ زَبُورًا ﴿٥٥﴾

**၅၅။** ထိုမှတပါး အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ ရှိသူတို့အား ကောင်းမွန်စွာသိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေ၏။ ထိုမှတစ်ပါး မလွဲဧကန် ငါအရှင်မြတ်သည် *အချို့သောနဗီတမန်တော်များအား အချို့(သော နဗီတမန်တော်တို့)ထက် သာစေတော်မူခဲ့လေ၏။* [၁] ထို့ပြင် ငါအရှင်မြတ်သည် (နဗီတမန်တော်) ဒါဝူဒ်အား ဇဗူရ်ကျမ်းတော်ကို ချီးမြှင့်ပေးသနားတော်မူခဲ့လေ၏။

---

➤➤ တာဝန်ခံ မဟုတ်ပေရာ၊ တမန်တော်မြတ်၏ နောက်လိုက်တပည့်များသည် အသို့လျှင် တာဝန်ခံဖြစ်အံ့နည်း။ တာဝန်ခံမဟုတ်ကြလျှင် သာသနာရေးတွင် ကြမ်းကြုတ်သောစကားပြောဆိုရန် အကြောင်းပင်မရှိပေ။

ဆိုလိုသည်ကား အကြောင်းမဲ့ ကြမ်းကြုတ်သောစကားမပြောရာ။ အကြောင်းရှိက လက်နက်ဆွဲကိုင်၍ စစ်တိုက်ပိုင်ခွင့်ပင် ရှိပေသည်။ ထာနဝီ။

(၁) အလ္လာဟ်အရှင်မြတ်သည် မိုး၊ မြေ စသည်တို့တွင် ရှိရှိသမျှသော သတ္တဝါအားလုံးတို့အား အကြွင်းမဲ့ သိတော်မူသည်။ မည်သူမည်ဝါသည် မည်သည့်ဂုဏ်ထူးနှင့် ထိုက်တန်သည်။ မည်သူမည်ဝါသည် နဗီဂုဏ်ထူးနှင့် ထိုက်တန်သည်ကို အကြွင်းမဲ့သိတော်မူသည်။

သို့ဖြစ်ရာ အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား နဗီဂုဏ်ထူးဖြင့် ချီးမြှင့်တော်မူခြင်းမှာ အံ့ဖွယ်မဟုတ်ပေ။ ထို့အတူ တမန်တော်မြတ်အား တမန်တော်အပေါင်းတို့တွင် အထွတ်အထိပ်အဖြစ် ချီးမြှင့်ထားတော်မူခြင်းမှာလည်း အံ့ဖွယ်မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် အတိတ်ခေတ်များတွင် အချို့ပုဂ္ဂိုလ်မွန်တို့အား နဗီဂုဏ်ထူးဖြင့် ချီးမြှင့်တော်မူခဲ့သည်။ ထိုတမန်တော်များအနက် အချို့ကို ➤➤

قُلِ ادْعُوا الَّذِينَ زَعَمْتُم مِّن دُونِهِ فَلَا يَمْلِكُونَ كَشْفَ الضُّرِّ عَنكُمْ وَلَا تَحْوِيلًا ﴿٥٦﴾

၅၆။ (အို-နဗီတမန်တော်) အသင်သည်(၎င်းတို့အား ဤသို့)ပြောကြားပါလေ။ အသင်တို့သည် ထိုအရှင်မြတ်အားစွန့်၍ (ကိုးကွယ်ရာများအဖြစ်)ထင်မှတ်(ကိုးကွယ်)ခဲ့သူတို့အား ဟစ်ခေါ်တမ်းတကြလေကုန်။ သို့ (အသင်တို့ထင်မှတ်ကိုးကွယ်ကြ)ပါလည်း၊ ၎င်းတို့သည် အသင်တို့အပေါ်မှ ဘေးဒုက္ခကို ပပျောက်စေနိုင်ကြသည်လည်း မဟုတ်ချေ။ (ယင်း ဘေးဒုက္ခကို) လွှဲပြောင်းနိုင်ကြသည်လည်း မဟုတ်ပေ။ ၁

---

➤➤ အချို့တို့ထက်သာစေတော်မူခဲ့သည်။ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား ကုရ်အာန်ကျမ်းမြတ်ကို ချီးမြှင့်ထားတော်မူသည်။ ဤသည်လည်း အံ့ဖွယ်မဟုတ်ပေ၊ အဘယ်ကြောင့်ဆိုသော် ထိုအရှင်မြတ်သည် အတိတ်ခေတ်တွင် မြောက်များစွာသော တမန်တော်များအား ကျမ်းဂန်ကြီးငယ်များကို ချီးမြှင့်တော်မူခဲ့သည်။

ဤအာယတ်တော်တွင် ဇဗူရ်ကျမ်းကို အထူးတလည်ထည့်သွင်း ဖော်ပြထားတော်မူခြင်းမှာ ဇဗူရ်ကျမ်းတွင် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဓမ္မစကြ်၊ အာဏာစက်၂-ခုစလုံး ချီးမြှင့်တော်မူခြင်းခံရမည့်အကြောင်း အမြွက်စကားပါရှိခြင်းကြောင့်ပင် ဖြစ်ရာသည်။ ကုရ်အာန်ကျမ်းမြတ် (၂၁း၁၀၅)တွင် ဤအကြောင်းပါရှိသည်။ ထာနဝီ။

① အလ္လာဟ်အရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင်ဖြစ်တော်မူသည်၊ အလိုတော်ရှိရာကို ပြုစွမ်းတော်မူနိုင်သည်၊ အပြစ်ပေးလိုသူအား အပြစ်ပေးတော်မူနိုင်သည်၊ သနားကြင်နာလိုသူအား သနားကြင်နာတော်မူနိုင်သည်။ ချီးမြှင့်တော်မူလိုသူအား ချီးမြှင့်တော်မူနိုင်သည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်သည်လည်း အနန္တဖြစ်သည်၊ ဉာဏ်တော်သည်လည်း အနန္တဖြစ်သည်။ မုရှ်ရစ်က်တို့ ကိုးကွယ်ရာအဖြစ် ထင်မှတ်ယူဆထားသော ၎င်းတို့၏ကိုးကွယ်ရာများကား ဤသို့အလျင်းမဟုတ်ပေ။ ထိုသည့်ကိုးကွယ်ရာများသည် ဤသို့အလျင်း မဟုတ်ပေ။ အလ္လာဟ်အရှင်မြတ်၌ရှိသော တန်ခိုးအာဏာများသည် ၎င်းတို့၌ အလျင်းမရှိပေ။ ၎င်းတို့သည် မိမိတို့အား ကိုးကွယ်ရာအရှင်သခင်ဟူ၍ မှတ်ယူကိုးကွယ်နေသူများ၏ ဒုက္ခကိုပင် ဖယ်ရှားပေးနိုင်ကြသည် မဟုတ်ပေ။ ယင်းဒုက္ခကို လျော့နည်းစေနိုင်ကြသည်လည်း မဟုတ်ပေ။ ပြောင်းလွှဲဖယ်ရှား ပေးနိုင်ကြသည်လည်း မဟုတ်ပေ။ ဤသို့ တန်ခိုးအာဏာမရှိသော၊ မစွမ်းဆောင်နိုင်သော၊ အားအင်ချည့်နဲ့သော သူများကို ကိုးကွယ်ရာ အရှင်သခင်အဖြစ် ထင်မှတ်ကိုးကွယ်သောသူများ၏ အသိဉာဏ်၊ အမြော်အမြင်ကား သေးနုပ်သိမ်ဖျင်းလှပါဘိတကား။

အမိုက်ခေတ်တွင် အချို့သူများသည် "ဂျင်န်" များကို ဆည်းကပ် ကိုးကွယ်ခဲ့ကြသည်။ ထိုနောက် ဂျင်န်များသည် အစ္စလာမ်သာသနာအတွင်းသို့ ကူးပြောင်းသက်ဝင် ယုံကြည်လာခဲ့ကြလေသည်။ သို့ရာတွင် ထိုဂျင်န်များအား ဆည်းကပ် ကိုးကွယ်နေသောသူများမှာမူ ၎င်းတို့၏ အကိုးကွယ်ခံများ ယခုကဲ့သို့ မွတ်စလင်မ်ဖြစ်သွားကြသည်ကို မသိဘဲ မှားမြဲတိုင်းမှားပြီး မိုက်မြဲတိုင်းမိုက်လျက်ပင် ရှိခဲ့ကြပေသည်။ ဤအာယတ်တော်သည် ယင်းသို့သော မုရှ်ရစ်က်များနှင့်ပတ်သက်၍ ကျရောက်လာခဲ့ပေသည်။ ကြည့်-ဗုခါရီကျမ်း။

أُولَٰٓئِكَ ٱلَّذِينَ يَدۡعُونَ يَبۡتَغُونَ إِلَىٰ رَبِّهِمُ ٱلۡوَسِيلَةَ أَيُّهُمۡ أَقۡرَبُ وَيَرۡجُونَ رَحۡمَتَهُۥ وَيَخَافُونَ عَذَابَهُۥٓۚ إِنَّ عَذَابَ رَبِّكَ كَانَ مَحۡذُورٗا ٥٧

၅၇။ ဤသူတို့သည် ယင်းကာဖိရ်တို့ ဟစ်ခေါ်လျက် ရှိကြသောသူများပင်၊ ထိုသူတို့သည် မိမိတို့အနက် မည်သူသည် (ထိုအရှင်မြတ်နှင့်) အနီးကပ်ဆုံးဖြစ်အံ့နည်းဟူ၍ မိမိတို့အား ဖန်ဆင်းတော်မူသောအရှင်မြတ် အထံတော်သို့ ချဉ်းကပ်မှုကို ရှာဖွေဆည်းပူးလျက် ရှိကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် ထိုအရှင်မြတ်၏ ကရုဏာတော်ကိုလည်း မျှော်လင့်လျက်ရှိကြကုန်၏။ ထို့ပြင် ၎င်းတို့သည် ထိုအရှင်မြတ်၏ပြစ်ဒဏ်ကိုလည်း ကြောက်ရွံ့ စိုးရိမ်လျက်ရှိကြကုန်၏။ ဧကန်မလွဲ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ပြစ်ဒဏ်သည် အလွန်ကြောက်မက်ဖွယ်ပင် ဖြစ်ချေသတည်း။

وَإِن مِّن قَرۡيَةٍ إِلَّا نَحۡنُ مُهۡلِكُوهَا قَبۡلَ يَوۡمِ ٱلۡقِيَٰمَةِ أَوۡ مُعَذِّبُوهَا عَذَابٗا شَدِيدٗاۚ كَانَ ذَٰلِكَ فِي ٱلۡكِتَٰبِ مَسۡطُورٗا ٥٨

၅၈။ မည်သည့်မြို့ရွာမဆို ငါအရှင်မြတ်သည် ထိုမြို့(သူ)ရွာ(သားတို့)အား ကိယာမတ်မဖြစ်မီ အလျင် ဖျက်ဆီးတော်မူမည့်အရှင်၊ သို့မဟုတ် ထိုမြို့(သူ)ရွာ(သားတို့)အား *ပြင်းထန်စွာ ပြစ်ဒဏ်ခတ်တော်မူမည့် အရှင်မြတ်ပင် ဖြစ်တော် မူပေသည်။* [၁] ဤသည် (လောင်ဟုမဟ်ဖူဇ်) သင်ပုန်းတွင် ရေးသားပြီး ဖြစ်သတည်း။

---

၁ ဤအာယတ်တော်၏ အနက်သဘောကို အမျိုးမျိုးဖွင့်ဆိုနိုင်ပေသည်။

(က) ဤပစ္စက္ခလောကရှိ မြို့ရွာအားလုံးကို ၎င်းတို့၏အလွန်ကြီးမားသော ပြစ်မှုများကြောင့် အလ္လာဟ်အရှင်မြတ်သည် ကိယာမတ်မတိုင်မီအလျင်ပင် ပြစ်ဒဏ်ခတ်ပြီး လုံးဝချေမှုန်း ဖျက်ဆီးပစ်တော်မူမည် ဖြစ်သည်။ အကယ်၍ ပြစ်မှုများသည် အလွန်မကြီးမားပါကလည်း ပထမပြစ်ဒဏ်ထက် သေးငယ်သော ပြစ်ဒဏ်ခတ်ပြီး ဖျက်ဆီးပစ်တော်မူမည်ဖြစ်သည်။ လူ့လောကတွင် ကမ္ဘာအစမှ ကမ္ဘာအဆုံးတိုင် တစ်ကြိမ်တစ်ခါမျှ ပြစ်မှုမကျူးလွန်ဘူးသော၊ ဘေးဥပါဒ် မသက်ရောက်ဘူးသော မြို့ရွာဟူ၍ကား အဘယ်မှာ ရှိနိုင်အံ့နည်း။

(ခ) ကိယာမတ်မတိုင်မီပင် မြို့ရွာတိုင်းသည် သဘာဝအလျောက် သေချိန်ရောက်၍ သေကြေပျက်စီး သွားရမည်သာဖြစ်သည်။ သို့တည်းမဟုတ် အလွန်ကြီးမားသော ဘေးဥပါဒ်ဆိုက်ရောက်၍ ပျက်စီးသွားရမည်သာ ဖြစ်သည်။

ပြစ်ဒဏ်ခတ်တော်မူခြင်း မဟုတ်ဘဲ သဘာဝအလျောက် သေခြင်း၊ ပျက်စီးခြင်းအတွက်လည်း ကုရ်အာန်ကျမ်းမြတ်တွင်လည်းကောင်း၊ ဟဒီးဆ်တော်များတွင်လည်းကောင်း၊ (هلاك) "ဟလာက်" ဟူသော ➤➤

وَمَا مَنَعَنَآ أَن نُّرْسِلَ بِٱلْـَٔايَـٰتِ إِلَّآ أَن كَذَّبَ بِهَا ٱلْأَوَّلُونَ ۚ وَءَاتَيْنَا ثَمُودَ ٱلنَّاقَةَ مُبْصِرَةً فَظَلَمُوا۟ بِهَا ۚ وَمَا نُرْسِلُ بِٱلْـَٔايَـٰتِ إِلَّا تَخْوِيفًا ﴿٥٩﴾

၅၉။ စင်စစ်သော်ကား ငါအရှင်မြတ်အား တန်ခိုးပြာဋိဟာများကို ချပေးတော်မမူရန် ယင်းတန်ခိုးပြာဋိဟာများ မဟုတ်မမှန်ဟူ၍ ရှေးလူဟောင်းတို့၏ ငြင်းပယ်မှုမှတစ်ပါး အခြားမည်သည့် *တစ်စုံတစ်ရာမျှ တားဆီးခဲ့သည်မဟုတ်ပေ။* [၁] စင်စစ် ငါအရှင်မြတ်သည် "ဆမူဒ်" လူမျိုးတို့အား ကုလားအုတ်မကို (နဗီတမန်တော် ဆွာလစ်ဟ်သည် အလ္လာဟ် အရှင်မြတ်၏ နဗီတမန်တော် ဖြစ်တော်မူကြောင်းကို) ထင်ရှားစေသော တန်ခိုးပြာဋိဟာအဖြစ် ချီးမြှင့်ပေးသနားတော်မူခဲ့လေသည်။ သို့ရာတွင် ၎င်းတို့သည် ယင်းကုလားအုတ်မနှင့်ပတ်သက်၍ (မိမိတို့ကိုယ်ကို) ကျူးကျော်စော်ကားခဲ့ကြကုန်၏။ အမှန်စင်စစ်သော်ကား ငါအရှင်မြတ်သည် တန်ခိုးပြာဋိဟာများကို သတိပေးနှိုးဆော်ချက်အဖြစ်သာလျှင် ချပေးတော်မူပေသတည်း။

---

➤➤ ပုဒ်ကို သုံးနှုန်းထားတော်မူသည်။

(ဂ) အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်တို့၏ မြို့ရွာများကို ကိယာမတ်မတိုင်မီအလျင်ပင် ၎င်းတို့၏ ကြီးမားသော ပြစ်မှုများကြောင့် လုံးဝချေမှုန်း ဖျက်ဆီးပစ်တော်မူမည်ဖြစ်သည်။ သို့တည်းမဟုတ် ကာဖိရ်တို့၏ မြို့ရွာများသည် ၎င်းတို့၏ ကြီးမားသောပြစ်မှုများကြောင့် တစ်ချိန်ချိန်တွင် (ဝ) ကိယာမတ်မတိုင်မီဖြစ်စေ၊ သို့မဟုတ် ကိယာမတ်နေ့တွင်ဖြစ်စေ အလွန်ပြင်းထန်သော ပြစ်ဒဏ်ကို မုချခံစားကြရမည်ဖြစ်သည်။

အထက်ဖော်ပြပါ အဖွင့်များအနက်မှ မည်သည့်အဖွင့်ကို မဆိုလက်ခံနိုင်ပေသည်။ ဤအာယတ်တော်ကို ထုတ်ပြန်ချမှတ်တော်မူခြင်း၏ အဓိကရည်ရွယ်ချက်မှာ သတိပေးတော်မူရန်ပင်ဖြစ်သည်။ ကုရ်အာန်(၁၇း၅၇)တွင် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်သည် အလွန် ကြောက်မက်ဖွယ်ကောင်းသည့် အကြောင်းပါရှိ၏။ ယခု ဤအာယတ်တော်တွင် ယင်းသည့် ပြစ်ဒဏ်တော် သက်ရောက် စေသည့်အကြောင်းကို မိန့်ဆိုထားတော်မူသည်။

[၁] မက္ကာမြို့သားများက တမန်တော်မြတ်အား "ဆွဖာတောင်ကို ရွှေသားပကတိ ပြုလုပ်ပြပါ၊ သို့မဟုတ် မက္ကာမြို့ပတ်ဝန်းကျင်၌ လယ်ယာလုပ်ကိုင်နိုင်ရန်အတွက် ပတ်ဝန်းကျင်ရှိ တောင်များကို ဖယ်ရှားပေးပါ၊ ဤသည်တို့ကို အသင်ပြုလုပ်ပြနိုင်လျှင် ကျွန်ုပ်သည် အသင့်အား အီမာန်ယုံကြည်ကြပါမည်" စသည်ဖြင့် ၎င်းတို့လိုလားသော အချို့တန်ခိုးပြာဋိဟာများကို တောင်းဆိုကြလေသည်။ ထိုအခါ ဤအာယတ်တော် ကျရောက်လာခဲ့လေသည်။

ဆိုလိုသည်ကား ဤကဲ့သို့သော တန်ခိုးပြာဋိဟာများကို ပြသရန် အလ္လာဟ်အရှင်မြတ်၌ ➤➤

وَاِذْ قُلْنَا لَكَ اِنَّ رَبَّكَ اَحَاطَ بِالنَّاسِ ۗ وَمَا جَعَلْنَا الرُّءْيَا الَّتِيْٓ

၆၀။ (အို-နဗီတမန်တော် အသင် ပြန်လည် သတိရပါလေ။) အခါတစ်ပါး၌ ငါအရှင်မြတ်က "ဧကန်မလွဲ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် လူခပ်သိမ်းတို့ကို ဝန်းဝိုင်း၍ထားတော်မူလေပြီ" ဟု အသင့်အား မိန့်ကြားတော်မူခဲ့လေသည်။

---

➤➤ မည်သို့မျှ အခက်အခဲမရှိပေ။ သို့ရာတွင် အတိတ်ခေတ်များ၌ အချို့အုပ်စုများသည် ဤကဲ့သို့ပင် ၎င်းတို့လိုလားသော အချို့တန်ခိုးပြာဋိဟာများကို တောင်းဆိုခဲ့ကြသည်။ ၎င်းတို့ တောင်းဆိုခဲ့ကြသည့် တန်ခိုးပြာဋိဟာများကိုလည်း ပြသတော်မူခဲ့သည်။ သို့ပြသတော်မူခဲ့သော်လည်း ထိုအုပ်စုများသည် အီမာန် မယုံကြည်ခဲ့ကြပေ။ အီမာန်မယုံကြည်ခဲ့ကြသည်သာမက ယခင်ကထက်ပင် ပိုမိုမောက်မာ ဆိုးသွမ်းမိုက်မဲလာခဲ့ကြပေသည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ စွန္နတ်တော်နှင့်အညီ ယင်းသို့သော ကာဖိရ်များအား လုံးဝချေမှုန်းကွပ်မျက် ဖျက်ဆီးတော်မူလိုက်လေသည်။

ယခုလည်း မက္ကာမြို့သားများ ကာဖိရ်များသည် အတိတ်ခေတ် ကာဖိရ်များကဲ့သို့ပင် မိမိတို့လိုလားသော တန်ခိုးပြာဋိဟာများကို တောင်းဆိုလျက်ရှိကြပေသည်။ အကယ်၍ ၎င်းတို့တောင်းဆိုကြသည့်အတိုင်း ၎င်းတို့ တောင်းဆိုသော တန်ခိုးပြာဋိဟာများကို ပြသတော်မူသော်၊ သို့ပြသတော်မူပြီးနောက် မနာခံကြသော် (နာခံကြမည် မဟုတ်သည်ကို အလ္လာဟ်အရှင်မြတ်အသိပင်၊ ၎င်းတို့၏ အပြုအမူများကလည်း ထင်ရှားပြသလျက်ပင်) အလ္လာဟ်အရှင်မြတ်သည် မိမိစွန္နတ်တော်အရ ယင်းသို့သော ကာဖိရ်များအား လုံးဝချေမှုန်း ကွပ်မျက်ဖျက်ဆီးတော်မူရမည်သာ ဖြစ်သည်။

သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် နောက်ဆုံး အွမ္မတ်သားတို့အား အတိတ်ခေတ် အွမ္မတ်သားများကဲ့သို့ လုံးဝချေမှုန်းကွပ်မျက် ဖျက်ဆီးပစ်တော်မူရန် အလိုတော်မရှိပေ။ အဘယ်ကြောင့်ဆိုသော် အတိတ်ခေတ် အချို့အုပ်စုများအား ၎င်းတို့တောင်းဆိုသော တန်ခိုးပြာဋိဟာများကို ပြသတော်မူ၍ မလိုက်နာ မယုံကြည်ကြသည့်အဆုံးတွင် လုံးဝ ချေမှုန်းဖျက်ဆီးပစ်တော်မူခဲ့ခြင်းမှာ ဂရုမူစရာအချက် မဟုတ်ပေ။

ထို့ပြင်တစ်ဝ မိမိတို့ကိုယ်တိုင် တောင်းဆိုသော တန်ခိုးပြာဋိဟာများကို မိမိတို့ကိုယ်တိုင် တွေ့မြင်ကြရပြီးနောက်သော်မှ မယုံကြည်မနာခံသောသူများသည် ယင်းကဲ့သို့ လုံးဝချေမှုန်းဖျက်ဆီးတော်မူခြင်း ခံခဲ့ကြရသည်ကို နောက်ဆုံး အုပ်စုများသည် စဉ်းစားဆင်ခြင်၍ နောင်တတရား ရယူနိုင်ကြပေသည်။ ထို့အတွက်ကြောင့်ပင် အလ္လာဟ် အရှင်မြတ်သည် နောက်ဆုံးအုပ်စုများအား ၎င်းတို့တောင်းဆိုသော တန်ခိုးပြာဋိဟာများကို ၎င်းတို့အား ပြသတော်မမူဘဲ ထားတော်မူခြင်းဖြစ်သည်။

ဤအာယတ်တော်တွင် ဤသည့်အချက်ကိုပင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။ ၎င်းတို့တောင်းဆိုသော တန်ခိုးပြာဋိဟာများကို ပြသတော်မမူသော်လည်း အခြေအနေအရ ကမ္ဘာတစ်သက် တည်ရှိမည့် အကြီးဆုံးဖြစ်သည့် တန်ခိုးပြာဋိဟာ (ဝါ)ကုရ်အာန်ကျမ်းမြတ်ကိုမူ တန်ခိုးပြာဋိဟာအဖြစ် ပြသထားတော်မူသည်၊ ရိုးသားဖြောင့်မတ် သမာသမတ်ရှိသူများအဖို့ ကုရ်အာန်ကျမ်းမြတ်သည် လုံးဝလုံလောက်ပေသည်။

أَرَيْنٰكَ إِلَّا فِتْنَةً لِّلنَّاسِ وَالشَّجَرَةَ الْمَلْعُونَةَ فِي الْقُرْاٰنِ ۚ وَنُخَوِّفُهُمْ فَمَا يَزِيدُهُمْ إِلَّا طُغْيَانًا كَبِيرًا ﴿٦٠﴾

ထို့ပြင် ငါအရှင်မြတ်သည် အသင့်အား ပြသတော်မူခဲ့သော ရှုကွက်ကိုလည်းကောင်း၊[၁] ကုရ်အာန်ကျမ်းတော်မြတ်၌ ရှုတ်ချခြင်းခံရသော သစ်ပင်ကိုလည်းကောင်း၊[၂] လူတို့ အဖို့ စမ်းသပ်မှုတစ်ရပ်သာလျှင် ပြုလုပ်တော်မူခဲ့လေသည်။ စင်စစ် ငါအရှင်မြတ်သည် လူတို့အား သတိပေး နှိုးဆော်တော်မူ၏။ သို့ရာတွင် ယင်းသတိပေး နှိုးဆော်ချက်များသည် ၎င်းတို့အား ကြီးကျယ်စွာသော မထီမဲ့မြင် ပြုမှုကိုသာ တိုးတက်ပွားများစေလေသတည်း။

وَإِذْ قُلْنَا لِلْمَلٰٓئِكَةِ اسْجُدُوا لِاٰدَمَ فَسَجَدُوٓا إِلَّآ إِبْلِيسَ ۭ قَالَ ءَأَسْجُدُ لِمَنْ خَلَقْتَ طِينًا ﴿٦١﴾

၆၁။ တစ်ဖန် (ပြန်လည်၍ သတိရကြလေကုန်)။ တစ်ရံရောအခါဝယ် ငါအရှင်မြတ်သည် မလာအိကဟ် ကောင်းကင်တမန်တို့အား 'အသင်တို့သည် အာဒမ်၏ ရှေ့ဝယ် ဦးချကြလေကုန်' ဟု မိန့်ကြားတော်မူခဲ့ရာ အီဗ်လီစ်မှတစ်ပါး ထိုကောင်းကင်တမန်အပေါင်းတို့သည်ဦးချခဲ့ကြလေသည်။ ယင်းအီဗ်လီစ်က 'အရှင်မြတ်ရွှံ့စေးဖြင့်ဖန်ဆင်းတော်မူခဲ့သောသူအား ကျွန်တော်မျိုးသည်ဦးချရပါမည်လော'[၁]ဟုလျှောက်ထားခဲ့လေသည်။

---

(၁) ဤအာယတ်တော်တွင်ပါရှိသော "ရုယာ" ဟူသည် မစ်အ်ရာဂျ်ညဉ့်တွင် တမန်တော်မြတ် မျက်ဝါးထင်ထင် တွေ့မြင်တော်မူခဲ့ရသည့် ရှုကွက်ကို ဆိုလိုသည်။ ဤသည့်အကြောင်းကို ထုတ်ဖော်မိန့်ကြားတော်မူရခြင်းမှာ လူများအား စမ်းသပ်တော်မူရန်ပင်ဖြစ်သည်။ ဤသည့်အကြောင်းကို ထုတ်ဖော်ပြောကြားလိုက်သည့်အခါ မှန်ကန်သောလူများက မှန်သည်ဟူ၍ ထောက်ခံပြောဆိုခဲ့ကြပြီး မရင့်ကျက်သော လူများကမူ ဤသည် မဖြစ်နိုင်ဟု ဆိုကာ ငြင်းပယ်ကြလေသည်။

ဤအာယတ်တော်တွင် ပါရှိသည့် "ရုယာ" သည် အိပ်မက်ကို ဆိုလိုသည်မဟုတ်၊ အိပ်မက်သာဖြစ်ပါက ကာဖိရ်များသည် ငြင်းဆိုကြမည်မဟုတ်ပေ၊ အဘယ်ကြောင့်ဆိုသော် အိပ်မက်သည် တစ်ခုထက်တစ်ခု ထူးထူးဆန်းဆန်းဖြစ်သည်သာဖြစ်သည်။ ကြည့်-တဖ်ဟီမုလ်ကုရ်အာန်။ အ-၂။ စ-၆၂၇။

(၂) ရှုတ်ချခြင်းခံရသော အပင်ဟူသည် "ဇက္ကူမ်" အပင်ကို ဆိုလိုသည်၊ ယင်းအပင်သည် ငရဲတွင် ပေါက်လျက်ရှိကြောင်း၊ ငရဲသားတို့သည် ယင်းအပင်ကို စားကြရမည်ဖြစ်ကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် မိန့်ဆိုထားတော်မူသည်။ ကြည့်-ကုရ်အာန် (၃၇း၆၂-၆၆။ ၄၄း၄၃-၅၀။ ၅၆း၅၂-၅၆)။

(၁) ဖခင်ကြီးအာဒမ်၊ ရှိုင်တွာန်အီဗ်လီစ်နှင့် ကောင်းကင်တမန်များ၏ အကြောင်းသည် အကြိမ်ကြိမ်ပါခဲ့ပြီး ➤➤

قَالَ أَرَءَيْتَكَ هَٰذَا ٱلَّذِى كَرَّمْتَ
عَلَىَّ لَئِنْ أَخَّرْتَنِ إِلَىٰ يَوْمِ
ٱلْقِيَٰمَةِ لَأَحْتَنِكَنَّ ذُرِّيَّتَهُۥٓ
إِلَّا قَلِيلًا ٦٢

၆၂။ ယင်းအီဗ်လီစ်က(ဆက်လက်၍) 'အရှင် ရှုတော်မူပါ၊ အရှင်မြတ်သည်ကျွန်တော်မျိုးထက်ထူးကဲမြင့်မြတ်စေတော်မူခဲ့သော၊ ဤသူကား အကယ်၍သာ အရှင်မြတ်သည် ကျွန်တော်မျိုးအား ကိယာမတ်ကမ္ဘာပျက်မည့်နေ့တိုင်အောင် ရွှေ့ဆိုင်းထားတော်မူခဲ့ပါလျှင် မလွဲဧကန်ကျွန်တော်မျိုးသည် ၎င်း၏သားမြေးတို့အနက် အနည်းငယ်မျှသော သူတို့မှတစ်ပါး အားလုံးကို ဖမ်းယူလွှမ်းမိုးပါမည်' ဟု လျှောက်ထားခဲ့ပြန်၏။

قَالَ ٱذْهَبْ فَمَن تَبِعَكَ
مِنْهُمْ فَإِنَّ جَهَنَّمَ جَزَآؤُكُمْ
جَزَآءً مَّوْفُورًا ٦٣

၆၃။ ထိုအခါ အရှင်မြတ်က '(အီဗ်လီစ်) အသင်သွား၊ (ကြိုက်ရာလုပ်)၊ တစ်ဖန် မည်သူမဆို ယင်း(အာဒမ်၏သားမြေး)တို့အနက်မှ အသင်၏နောက်သို့ လိုက်ပါခဲ့လျှင် ဂျဟန္နမ်ငရဲဘုံသည် အသင်တို့၏ လုံလောက်စွာသော အကျိုးပင် ဖြစ်ပေသတည်း။

وَٱسْتَفْزِزْ مَنِ ٱسْتَطَعْتَ
مِنْهُم بِصَوْتِكَ وَأَجْلِبْ
عَلَيْهِم بِخَيْلِكَ وَرَجِلِكَ
وَشَارِكْهُمْ فِى ٱلْأَمْوَٰلِ
وَٱلْأَوْلَٰدِ وَعِدْهُمْ ۚ وَمَا يَعِدُهُمُ

၆၄။ 'ထို့ပြင်(အီဗ်လီစ်)၊ အသင်သည် ၎င်းတို့အနက် မိမိလက်လှမ်းမီသောသူတို့အား မိမိအသံဖြင့် စိတ်ထကြွစေလော့၊ ခြိမ်းခြောက်လှည့်ဖြားလော့။ ထို့ပြင် အသင်သည် မိမိမြင်းစီးသူရဲဖြင့်လည်းကောင်း၊ ခြေလျင်သူရဲဖြင့်လည်းကောင်း၊ ထိုသူတို့အား ဝိုင်းဝန်းလော့။ ထိုမှတစ်ပါး အသင်သည် ဥစ္စာပစ္စည်းများ၌လည်းကောင်း၊ သားသမီးများ၌လည်းကောင်း၊ ထိုသူတို့နှင့် အတူဖက်စပ်ပါဝင်လော့။

➤➤ ဖြစ်သည်။ ဤသည့်အကြောင်းကို စဉ်းစားဆင်ခြင်ပါက အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို ခြွင်းချက်မရှိ နာခံခြင်းမှာ ကောင်းကင်တမန်များ၏ အလုပ်သာဖြစ်ကြောင်း၊ အမိန့်တော်များနှင့်စပ်လျဉ်း၍ ဒွိဟသံသယဖြစ်စေခြင်း၊ အမိန့်တော်များကို သွေဖည်ငြင်းဆန်ခြင်းများသည် ရှိုင်တွာန် အီဗ်လီစ်၏ အလုပ်သာ ဖြစ်ကြောင်းကို ကောင်းစွာ သိနိုင်ပေသည်။

ယခု ကာဖိရ်များသည်လည်း အီဗ်လီစ်၏ လမ်းစဉ်ကိုလိုက်နာ၍ စကားတိုင်းတွင် စောဒနာဝင်ကြသည်။ အတွန့်တက်ကြသည်၊ အမိန့်တော်များကို သွေဖည်ကြသည်။ သို့ဖြစ်ပေရာ ၎င်းတို့သည်လည်း ၎င်းတို့၏ ရှေ့ဆောင်ကြီး အီဗ်လီစ်ကဲ့သို့ပင် ပျက်စီးခြင်းကြီးမလှ ပျက်စီးကြရပေမည်သာတည်း။

الشَّيْطٰنُ اِلَّا غُرُوْرًا ۝٦٤

ထို့ပြင် အသင်သည် ၎င်းတို့အား (မဟုတ်မမှန်သော) ကတိကိုပြုလော့။ စင်စစ်သော်ကား ရှိုင်တွာန်မိစ္ဆာကောင်သည် ၎င်းတို့အား (ရိုးသားဖြောင့်မတ်စွာ ကတိပေးခြင်းကိုမပြုဘဲ) လှည့်စားခြင်းကိုသာ ပြုလေ့ရှိ၏။

اِنَّ عِبَادِيْ لَيْسَ لَكَ عَلَيْهِمْ سُلْطٰنٌ ؕ وَكَفٰى بِرَبِّكَ وَكِيْلًا ۝٦٥

၆၅။ 'ဧကန်စင်စစ် ငါအရှင်မြတ်၏ကျွန်(အစစ်အမှန်)တို့မှုကား အသင်၌ ၎င်းတို့အပေါ်တွင် လုံးဝ သြဇာအာဏာရှိလိမ့်မည်မဟုတ်ပေ။ စင်စစ် အသင်(မုဟမ္မဒ်)အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည်ပင် (၎င်းတို့အား) ထိန်းသိမ်းစောင့်ရှောက်တော်မူသော အရှင်မြတ်အဖြစ် လုံလောက်တော်မူပေသတည်း'။

رَبُّكُمُ الَّذِيْ يُزْجِيْ لَكُمُ الْفُلْكَ فِي الْبَحْرِ لِتَبْتَغُوْا مِنْ فَضْلِهٖ ؕ اِنَّهٗ كَانَ بِكُمْ رَحِيْمًا ۝٦٦

၆၆။ အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည်ပင် အသင်တို့အဖို့ အသင်တို့ ထိုအရှင်မြတ်၏ကျေးဇူးတော် (ရိဇ္ဇာတော်)ကို ရှာဖွေဆည်းပူးကြအံ့သောငှာ ရွက်သင်္ဘောများကို သမုဒ္ဒရာပင်လယ်၌ သွားလာ လှုပ်ရှားစေတော်မူသောအရှင်တည်း။ ဧကန်မလွဲ ထိုအရှင်မြတ်သည် အသင်တို့အပေါ်ဝယ် အလွန်တရာ သနားကြင်နာ ညှာတာတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَاِذَا مَسَّكُمُ الضُّرُّ فِي الْبَحْرِ ضَلَّ مَنْ تَدْعُوْنَ اِلَّآ اِيَّاهُ ۚ فَلَمَّا نَجّٰىكُمْ اِلَى الْبَرِّ اَعْرَضْتُمْ ؕ وَكَانَ الْاِنْسَانُ كَفُوْرًا ۝٦٧

၆၇။ စင်စစ် အသင်တို့တွင် သမုဒ္ဒရာပင်လယ်၌ ဘေးဒုက္ခသက်ရောက်ခဲ့သော် (အသင်တို့သည်) ထိုအရှင်မြတ်မှတစ်ပါး အသင်တို့ဟစ်ခေါ်(ကိုးကွယ်)လျက်ရှိကြသူတို့သည် ပျောက်ကွယ်သွားကြလေသည်။ တဖန် ထိုအရှင်မြတ်သည် အသင်တို့အား ကုန်းပေါ်သို့ လွတ်မြောက်စေတော်မူခဲ့သောအခါ အသင်တို့သည် မျက်နှာလွှဲသွားခဲ့ကြပြန်၏။ စင်စစ်သော်ကား မနုဿလူသားသည် အလွန်တရာ ကျေးဇူးကန်းသူပင်ဖြစ်ချေသတည်း။

أَفَأَمِنتُمْ أَن يَخْسِفَ بِكُمْ جَانِبَ الْبَرِّ أَوْ يُرْسِلَ عَلَيْكُمْ حَاصِبًا ثُمَّ لَا تَجِدُوا لَكُمْ وَكِيلًا ﴿٦٨﴾

၆၈။ ထိုအရှင်မြတ်သည် ကုန်းပေါ်၌ အသင်တို့အား မြေမျိုစေတော်မူမည်ကို လည်းကောင်း၊ အသင်တို့ အပေါ်၌ သဲမုန်တိုင်း စေလွှတ်တော်မူမည်ကိုလည်း ကောင်း၊ အသင်တို့သည် စိုးရိမ်ခြင်းမရှိဘဲ စိတ်ချ၍ နေကြလေသလော။ ထို(သို့ပြုတော်မူခဲ့သည့်)နောက် တွင်မူ အသင်တို့သည် မိမိတို့အဖို့ ကာကွယ်စောင့်ရှောက် မည့်သူ တစ်ဦးတစ်ယောက်ကိုမျှပင် (ရှာဖွေ)တွေ့ရှိ ကြမည် မဟုတ်ပေ။

**(တစ်နည်း)**

ထိုအရှင်မြတ်သည် အသင်တို့အား ကုန်းပေါ်၌ပင် မြေမျိုစေတော်မူခြင်းကိုလည်းကောင်း၊ အသင်တို့ အပေါ်၌ သဲမုန်တိုင်း စေလွှတ်တော်မူခြင်းကိုသော် လည်းကောင်း၊ ပြုနိုင်တော်မူ၏။ ထိုအခါတွင် အသင် တို့သည် မိမိတို့အဖို့ ကာကွယ် စောင့်ရှောက်မည့်သူ တစ်ဦးတစ်ယောက်ကိုမျှပင် (ရှာဖွေ) တွေ့ရှိကြမည် မဟုတ်ပေ။ အသင်တို့သည် (ဤသည့် ပြစ်ဒဏ်များမှ) စိုးရိမ်ခြင်းကင်း၍ နေကြလေသလော။

أَمْ أَمِنتُمْ أَن يُعِيدَكُمْ فِيهِ تَارَةً أُخْرَىٰ فَيُرْسِلَ عَلَيْكُمْ قَاصِفًا مِّنَ الرِّيحِ فَيُغْرِقَكُم بِمَا كَفَرْتُمْ ثُمَّ لَا تَجِدُوا لَكُمْ عَلَيْنَا بِهِ تَبِيعًا ﴿٦٩﴾

၆၉။ သို့တည်းမဟုတ် အရှင်မြတ်သည် အသင်တို့ အား ယင်းသမုဒ္ဒရာပင်လယ်ထဲသို့ နောက်တစ်ကြိမ် ထပ်မံ၍ ရောက်စေတော်မူပြီးလျှင် အသင်တို့အပေါ်၌ အသင်တို့၏သွေဖည်ငြင်းပယ်မှုကြောင့် လေမုန်တိုင်းကို စေလွှတ်ခြင်းအားဖြင့် အသင်တို့အား နစ်မြုပ်စေတော်မူ မည်ကို စိုးရိမ်ခြင်းမရှိဘဲ စိတ်ချ၍ နေကြလေသလော။ ထိုအခါ အသင်တို့သည် မိမိတို့အဖို့ ငါအရှင်မြတ်နှင့် ဆန့်ကျင်၍ ကူညီစောင်မမည့်သူ တစ်ဦးတစ်ယောက်ကို မျှပင် (ရှာဖွေ)တွေ့ကြလိမ့်မည် မဟုတ်ပေတကား။

**(တစ်နည်း)**

သို့တည်းမဟုတ် ထိုအရှင်မြတ်သည် အသင်တို့အား ယင်းသမုဒ္ဒရာပင်လယ်ထဲသို့ နောက်တစ်ကြိမ် ထပ်မံ၍ ရောက်စေတော်မူမည်။ ထို့နောက် ထိုအရှင်မြတ်သည် အသင်တို့အပေါ်၌ လေမုန်တိုင်းကို စေလွှတ်တော်မူမည်။ တစ်ဖန် ထိုအရှင်မြတ်သည် အသင်တို့အား အသင်တို့၏သွေဖည်ငြင်းပယ်မှုကြောင့် နစ်မြုပ်စေတော်မူမည်။ ထိုအခါ အသင်တို့သည် ယင်းကိစ္စနှင့်စပ်လျဉ်း၍ ငါအရှင်မြတ်နှင့် ဆန့်ကျင်ပြီး မိမိတို့အဖို့ ကူညီစောင်မမည့်သူ တစ်ဦးတစ်ယောက်ကိုမျှပင် (ရှာဖွေ) တွေ့ရှိကြလိမ့်မည်မဟုတ်ပေ။ **(တစ်နည်း)** အသင်တို့သည် မိမိအဖို့ ယင်းကိစ္စနှင့်စပ်လျဉ်း၍ ငါ့အား အရေးယူမည့်သူ တစ်ဦးတစ်ယောက်ကိုမျှ တွေ့ရှိကြမည်မဟုတ်ပေ။ အသင်တို့သည် (ဤသည့် ပြစ်ဒဏ်များမှ) စိုးရိမ်ခြင်းကင်း၍ နေကြလေသလော။ [၁]

---

(၁) **ကျေးဇူးရှင်အား ကျေးမစွပ်ရာ။**

အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား အလွန်သနားကြင်နာတော်မူသော အရှင်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် လူသားတို့အကျိုးငှာ မိမိပြုစီရင်ထားတော်မူသော ရိက္ခာတော်များကို လူသားတို့ လွယ်ကူစွာ ဆည်းပူးစားသုံးနိုင်ကြရန်အတွက် သမုဒ္ဒရာပင်လယ်ကြီးများတွင် လှေများသင်္ဘောများကို သွားလာ လှုပ်ရှားစေထားတော်မူပေသည်။ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကား ကြီးမားလှဘိပါ၏။

အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို တုံ့ပြန်သောအားဖြင့် လူသားတို့သည် ထိုအရှင်မြတ်အား သာလျှင် ခယရိကျိုးရှိခိုးပူဇော်ကြရပေမည်၊ ထိုအရှင်မြတ်အားသာလျှင် အောက်မေ့တသ သတိရကြရပေမည်။ ထိုအရှင်မြတ်နှင့် ယှဉ်တွဲ၍ မည်သည့်အရာကိုမျှ မကိုးကွယ်ကြရာ၊ ထိုအရှင်မြတ်အား မည်သည့်အခါ၌မျှ ကျေးဇူးမကန်းကြရာ။ ယခုမူ လူသားတို့သည် ဒုက္ခရောက်သည့်အချိန်တွင် ထိုအရှင်မြတ်အား အောက်မေ့တသကြသည်။ ဒုက္ခမှ လွတ်မြောက်လျှင် လွတ်မြောက်ခြင်း ထိုအရှင်မြတ်အား အမေ့ကြီးမေ့သွားကြသည်။ ကျောခိုင်းကြသည်။ သမုဒ္ဒရာပင်လယ်အတွင်း လေမုန်တိုင်းမိနေသည့်အခါ အလ္လာဟ်အရှင်မြတ်အား အကြီးအကျယ် အောက်မေ့တသ သတိရကြသည်။ ထိုအရှင်မြတ်၏ကျေးဇူးတော်ဖြင့် ကမ်းခြေပေါ်၌ ခြေချနိုင်သည်နှင့်တစ်ပြိုင်နက် ထိုအရှင်မြတ်အား အမေ့ကြီးမေ့သွား ကြပေသည်။ လူသားတို့ကား ကျေးဇူးကန်းလှပါဘိ၏။

လူသားတို့သည် ကမ်းခြေပေါ်သို့ ရောက်သွားသည့်အတွက် ငါတို့သည် ဘေးကင်းရန်ကင်း ဖြစ်ပြီဟု ယူဆကာ စိတ်ချလက်ချ မနေအပ်ကြပေ။ ထိုအရှင်မြတ်သည် ပြစ်ဒဏ်ခတ်တော်မူလိုက ➤➤

وَلَقَدْ كَرَّمْنَا بَنِيٓ ءَادَمَ وَحَمَلْنَٰهُمْ فِي ٱلْبَرِّ وَٱلْبَحْرِ وَرَزَقْنَٰهُم مِّنَ ٱلطَّيِّبَٰتِ وَفَضَّلْنَٰهُمْ عَلَىٰ كَثِيرٍ مِّمَّنْ خَلَقْنَا تَفْضِيلًا ﴿٧٠﴾

၇၀။ ကေန်မလွဲ ငါအရှင်မြတ်သည် အာဒမ်၏သား သမီးများကို ဂုဏ်သိန်ထူးကဲ မြင့်မြတ်စေတော်မူခဲ့ လေသည်။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့အား ကုန်းပေါ်၌ (ကုလားအုတ်၊ မြင်း၊ ကုန်းယာဉ်၊ လေယာဉ် ပျံ၊ စသောအစီးအနင်းတို့ကို) လည်းကောင်း၊ သမုဒ္ဒရာ ပင်လယ်၌ (သင်္ဘော၊ လှေ၊ သမ္ဗန် စသောယာဉ်များ ကို)လည်းကောင်း၊ စီးနင်းစေတော်မူခဲ့သည်။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ၎င်းတို့အား (စားသုံးရန်) စင်ကြယ် ကောင်းမွန်သောအရာများကို ချီးမြှင့်ပေးသနားတော် မူခဲ့သည်။ တစ်ဖန် ငါအရှင်မြတ်သည် ၎င်းတို့အား ငါအရှင်မြတ် ဖန်ဆင်းထားတော်မူသော အရာများ အနက် များစွာ(သောသက်ရှိသက်မဲ့)တို့ထက် ထွတ်မြတ် စေတော်မူခဲ့လေသတည်း။ ၁

▶▶ သမုဒ္ဒရာအတွင်း၌သာမဟုတ်၊ နေရာဌာနမရွေး အခါကာလမရွေး ပြစ်ဒဏ်ခတ်တော်မူနိုင်ပေသည်။

ဥပမာ–ထိုအရှင်မြတ်သည် ကုန်းပေါ်တွင် မြေမြှုပ်စေတော်မူနိုင်သည်။ မြေလျှင်လှုပ်စေတော်မူနိုင်သည်။ နောက်ထပ်တစ်ဖန် ပင်လယ်ခရီးသွားရန် အကြောင်းဆုံစေတော်မူ၍ ပင်လယ်အတွင်း၌ပင် နစ်မြုပ်စေပြီး ကွပ်မျက်တော်မူလိုကလည်း ကွပ်မျက်နိုင်ပေသည်။ သို့ဖြစ်ရာ လူသားတို့သည် ကျေးဇူးတော်အရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အား အခါမရွေး နေရာမရွေး အောက်မေ့တသ သတိရကြရမည်၊ မမေ့ကြရာ၊ ကျောမခိုင်းကြရာ၊ ကျေးဇူးမကန်းကြရာ။

(၁) အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား လှပသော ရုပ်ဆင်းသဏ္ဌာန်၊ စကားပြောဆိုနိုင်သော သတ္တိ၊ မြော်မြင်စဉ်းစားဝေဖန်ပိုင်းခြားနိုင်သော အသိဉာဏ်များကို လိုလေသေးမရှိ အထူးတလည် ချီးမြှင့်ထားတော်မူသည်။ လူသားတို့သည် မိမိတို့၏ အသိဉာဏ်ဖြင့် လောကီလောကုတ္တရာများတွင် အကျိုးအပြစ် အကောင်းအဆိုးများကို ဝေဖန်ပိုင်းခြား သိမြင်နိုင်ကြပေသည်။ လူသားတို့အဖို့ တိုးတက်ရာ တိုးတက်ကြောင်းလမ်းများသည် အားလုံးပွင့်လျက်ရှိပေသည်။ လူသားတို့သည် ကမ္ဘာ့တန်ဆာပလာများကို အမျိုးမျိုးအသုံးပြုလျက်ရှိကြပေသည်။ ယခုအခါ လပေါ်သို့ပင် တက်ရောက်ခြယ်လှယ်ရန် ကြိုးပမ်းလျက်ရှိချေပြီ။ မိုးပျံမြေလျှိုးနေကြသည်မှာ မျက်မြင် ကိစ္စပင်။ လူသားတို့သည် အကောင်းဆုံးသော အစာကို စားသုံးကြသည်၊ အကောင်းဆုံးသော အဝတ်ကို ဝတ်ဆင်ကြသည်၊ အကောင်းဆုံးသော အနေကို နေထိုင်ကြသည်။

လူသားတို့၏ ဖခင်ကြီး အာဒမ်(အလိုင်ဟစ္စလာမ်)သည် ကောင်းကင်တမန်များ၏ အရိုအသေပြုခြင်း ကိုပင် ခံခဲ့ရသည်။ လူသားတို့တွင် နောက်ဆုံးပွင့်တော်မူသော တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် အဖန်ဆင်းခံအပေါင်းတို့၏ အထွတ်အထိပ်ပင်ဖြစ်တော်မူသည်။



၇၁။ အကြင်နေ့တွင် ငါအရှင်မြတ်သည် လူသား အားလုံးတို့ကို ၎င်းတို့၏ ရှေ့ဆောင်တို့နှင့်တကွ (မှတ်တမ်းများနှင့်တကွ) ခေါ်ယူတော်မူအံ့။ ထိုအခါ မိမိတို့၏မှတ်တမ်းများကို မိမိတို့ လက်ယာလက်သို့ *ပေးခြင်းခံကြရသော*[၁] သူတို့မှာမူကား မိမိတို့၏မှတ် တမ်းများကို (ဝမ်းမြောက်ဝမ်းသာ) ဖတ်ကြကုန်အံ့။ ၎င်းပြင် ထိုသူတို့သည် စိုးစဉ်းမျှပင် မတရားပြုလုပ်ခြင်း ကို ခံကြရမည် မဟုတ်ပေ။

يَوْمَ نَدْعُوا كُلَّ أُنَاسٍ بِإِمَامِهِمْ فَمَنْ أُوتِيَ كِتَابَهُ بِيَمِينِهِ فَأُولَٰئِكَ يَقْرَءُونَ كِتَابَهُمْ وَلَا يُظْلَمُونَ فَتِيلًا ﴿٧١﴾

၇၂။ စင်စစ် မည်သူမဆို ဤပစ္စုပ္ပန်လောကီဘဝတွင် မျက်စိကန်းသူဖြစ်ခဲ့လျှင်၊ ထိုသူသည် နောင်တမလွန် ဘဝတွင်လည်း ကန်းသူသည်လည်းကောင်း၊ (မှန်ကန် သောလမ်းမှ) ပို၍ဝေးသူသည်လည်းကောင်း၊ ဖြစ်အံ့ သတည်း။[၂]

وَمَنْ كَانَ فِي هَٰذِهِ أَعْمَىٰ

---

➤➤ အချုပ်အားဖြင့်ဆိုရသော် အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား အဖန်ဆင်းခံ မြောက်မြားစွာ တို့ထက် အဖက်ဖက်တွင် အသာပေးထားတော်မူသည်။ သို့ဖြစ်ပေရာ လူသားတို့သည် မိမိတို့၏ ကျေးဇူးရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အား ကျေးဇူးတုံ့ပြန်သောအားဖြင့် ထိုအရှင်မြတ်၏ အမိန့်ပညတ်တော်များကို ဦးလည်မသုံ လိုက်နာကျင့်သုံးကြရပေမည်။ ကျေးဇူးသိတတ်ရာ၏။ ကျေးဇူးမကန်းရာ။ ကျေးဇူးရှင်အား ကျေးမစွပ်ရာ။

၁ **လက်ယာနှင့်လက်ဝဲ**

လူသားတို့သည် လူ့သဘာဝအလျောက် ရရှိထားသည့် မြင့်မြတ်မှုဂုဏ်ကို တာဝန်သိသိ သစ္စာရှိရှိ အဘယ်မျှ ထိန်းသိမ်းခဲ့ကြသည်၊ အဘယ်မျှ ဖျက်ဆီးခဲ့ကြသည်။ မည်သူမည်ဝါတို့က ထိန်းသိမ်းခဲ့ကြသည်၊ မည်သူမည်ဝါတို့က ဖျက်ဆီးခဲ့ကြသည်များကို ကိယာမတ်နေ့တွင် ၎င်းတို့၏သက်ဆိုင်ရာမှတ်တမ်းများတွင် ထင်းထင်းနှင့် ရှင်းရှင်းပေါ်လျက်ရှိချေမည်။

ကိယာမတ်နေ့တွင် လူတိုင်းလူတိုင်း၊ အုပ်စုတိုင်းအုပ်စုတိုင်းသည် လူ့လောကတွင်ရှိခဲ့ကြစဉ် မိမိတို့ ဆည်းကပ် ကိုးကွယ်ခဲ့ကြသော အကြီးအကဲများ၊ ရှေ့ဆောင်ရှေ့ရပ်များနှင့်အတူတကွ အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်သို့ လာကြရပေမည်။

ဥပမာ-မုအ်မင်န်များသည် မိမိတို့၏ သက်ဆိုင်ရာနဗီများ၊ သာသနာ့ရှေ့ဆောင်ရှေ့ရပ်များနှင့်အတူ လည်းကောင်း၊ ကာဖိရ်များသည်လည်း ၎င်းတို့၏ အကြီးအကဲများ ရှေ့ဆောင်ရှေ့ရပ်များ၊ ရှိုင်တွာန်များ၊ ကိုးကွယ်ရာအတုများနှင့် အတူလည်းကောင်း၊ လာကြရပေမည်။ သို့ရောက်ရှိလာကြသည့်အခါ လူတိုင်းလူတိုင်းသည် လူ့လောကတွင် ရှိစဉ် မိမိတို့ပြုမူ ကျင့်ကြံမှုများနှင့် စပ်လျဉ်းသည့် မှတ်တမ်းများကို အသီးသီးရရှိကြပေမည်၊ ➤➤

فَهُوَ فِى الْاٰخِرَةِ اَعْمٰى وَاَضَلُّ سَبِيْلًا ﴿٧٢﴾

**တစ်နည်း။**

ငင်းပြင် အကြင်သူသည် ဤပစ္စက္ခဘဝတွင် လွတ်မြောက်ရာ တရားလမ်းစဉ်ကို မြင်ခြင်းမှ ကန်းနေခဲ့ပါလျှင် ထိုသူသည် နောင်တမလွန်ဘဝတွင်လည်း (လွတ်မြောက်ရာ စခန်းသို့မရောက်ဘဲ) ကန်း၍ပင်နေပေမည်။ ငင်းပြင် ထိုသူသည်(ပစ္စက္ခနှင့်စာလျှင် နောင်တမလွန်ဘဝတွင်) တရားလမ်းနှင့်ပို၍ပင် ဝေးသူဖြစ်နေပေမည်။ ကြည့်-ထာနဝီ။

---

➤➤ အချို့သည် ရှေ့မှလက်ယာလက်တွင် အပေးခံကြရမည်၊ အချို့သည် နောက်မှ လက်ဝဲလက်တွင် အပေးခံကြရမည်ဖြစ်သည်။

လက်ယာတွင် မှတ်တမ်းအပေးခံရသောသူများသည် အလ္လာဟ်အရှင်မြတ် နှစ်မြို့တော်မူသော သူမွန်သူမြတ်များ ဖြစ်ကြပေမည်။ လက်ဝဲတွင် မှတ်တမ်းအပေးခံရသောသူများသည် အလ္လာဟ်အရှင်မြတ် နှစ်မြို့တော်မမူသော သူယုတ်မာများဖြစ်ကြပေမည်။ တစ်နည်းအားဖြင့် မှတ်တမ်းများကို လက်ယာ လက်ဝဲ ခွဲခြားပေးခြင်းသည် သူတော်နှင့် သူယုတ်ကို ခွဲခြားပြသည့် မျက်မြင်နိမိတ်လက္ခဏာတစ်ရပ်ပင် ဖြစ်ချေသည်။

လက်ယာ၌ မှတ်တမ်းအပေးခံရသော သူတော်စင်များသည် (အောင်လက်မှတ်ရသော ကျောင်းသားများအလား) မိမိတို့၏ မှတ်တမ်းများကို ဝမ်းသာမဆုံး အပြုံးကြီးပြုံးကာ မိမိတို့ကိုယ်တိုင်လည်း ဖတ်ကြမည်၊ သူတစ်ပါးအားလည်း ဖတ်ရန်ပြကြပေမည်၊ ကြည့်-ကုရ်အာန်(၆၉း၁၉-၂၄)။

လက်ဝဲ၌ မှတ်တမ်း အပေးခံရသော သူယုတ်တို့ကား (ကြိုးမိန့်ကျသော တရားခံအလား) ရင်တဖိုဖို ရှိကြချေမည်။ ရှေ့အာယာတ်တော်တွင် ၎င်းတို့၏ အကြောင်းများကိုပင် မိန့်ဆိုထားတော်မူသည်။

လက်ယာသမားနှင့်လက်ဝဲသမားတို့၏ အကြောင်းကို ကုရ်အာန်ကျမ်းမြတ်(၅၆း၁-၇၄။၆၉း၁၉၊၃၇။ ၈၀း၁၇-၂၀)တွင်လည်း အကျယ်တဝင့် မိန့်ဆိုထားတော်မူသည်။

(၂) ဆိုလိုသည်ကား အကြင်သူတစ်ဦးသည် ဤပစ္စက္ခဘဝတွင် တရားလမ်းကို မမြင်ဘဲ ကန်းနေခဲ့သော်၊ ထိုသူသည် ကိယာမတ်နေ့တွင်လည်း ဂျန္နတ်၏ လမ်းကိုမမြင်ဘဲ ကန်း၍ပင်နေပေမည်။ ဂျန္နတ်နှင့်လည်း အလွန်ဝေးကွာပေမည်။ ဤကား လက်ယာမဟုတ် လက်ဝဲ၌ မှတ်တမ်းပေးခံရသော သူယုတ်မာတို့၏ အဖြစ်တည်း။

"လမ်းနှင့်ပို၍ပင် ဝေးကွာသွားပေမည်" ဟူသော အာယတ်တော်ကိုအချို့က လူလောကတွင် တစ်စုံတစ်ရာ လစ်ဟင်းမှေ့မှားသွားပါက ပြန်လည်ပြုပြင် ဖြည့်စွက်နိုင်ပေသေးသည်။

နောင်တမလွန် ဘဝတွင်မူကား မိမိ၏လစ်ဟင်းမှု မှားယွင်းမှုများကို ပြုပြင်နိုင်ရန် ဖြည့်စွက်နိုင်ရန် အကြောင်း အလျှင်း မရှိပေ။ ထို့အတွက် ထိုသူသည် လမ်းနှင့်ပို၍ပင် ဝေးကွာ သွားပေမည်ဟူ၍ ဖွင့်ဆိုကြသည်။

وَإِن كَادُوا لَيَفْتِنُونَكَ عَنِ الَّذِي أَوْحَيْنَا إِلَيْكَ لِتَفْتَرِيَ عَلَيْنَا غَيْرَهُ ۖ وَإِذًا لَّاتَّخَذُوكَ خَلِيلًا ﴿٧٣﴾

၇၃။ စင်စစ်ဧကန် ငါအရှင်မြတ်သည် အသင့်ထံသို့ ပို့တော်မူခဲ့သောအမိန့်တော်မှတစ်ပါးကို ငါအရှင်မြတ် အပေါ်၌ အသင် လီဆယ်ပြောဆိုအံ့သောငှာ ၎င်းတို့သည် အသင့်အား ယင်းအမိန့်တော်မှ *ချွတ်ချော်တိမ်းပါး စေအံ့ဆဲဆဲပင် ဖြစ်ခဲ့ကြကုန်၏။* [၁] ထိုအခါ ၎င်းတို့သည် အသင့်အား ရင်းနှီးသောအားဖြင့် အဆွေခင်ပွန်းပြုလုပ်ခဲ့ကြမည်အမှန်ပင်။

وَلَوْلَا أَن ثَبَّتْنَاكَ لَقَدْ كِدتَّ تَرْكَنُ إِلَيْهِمْ شَيْئًا قَلِيلًا ﴿٧٤﴾

၇၄။ စင်စစ်ဧကန် အကယ်၍သာ ငါအရှင်မြတ်သည် အသင့်အား ရပ်တည်စေတော်မမူခဲ့လျှင် မလွဲဧကန် အသင်သည် ၎င်းတို့ဘက်သို့ *ယိမ်းယိုင်အံ့ဆဲဆဲ ဖြစ်သွားခဲ့ပေမည်။* [၂]

---

(၁) **လောကီအကျိုးပြ၍ မြူဆွယ်သောကာဖိရ်များအား တမန်တော်မြတ်၏အဖြေ။**

အမှန်တရားကို မမြင်လိုသော အချို့အကန်းများသည် အလွန်ဆိုးသွမ်း၊ ယုတ်မာကြသည်။ ၎င်းတို့သည် မိမိတို့ကိုယ်တိုင် တရားလမ်းမှန်မှ ချွတ်ချော်ယိမ်းယိုင်နေကြသည်သာမက၊ တရားလမ်းမှန်ပေါ်၌ မယိမ်းမယိုင် ကျောက်တိုင်ပမာ ရပ်တည်နေကြသော သူတော်စင်အဓိပတိကြီးများကိုပင် ချွတ်ချော်ယိမ်းယိုင်စေရန် ကြိုးပမ်းအားထုတ်ကြပေသည်။

မက္ကာမြို့သား ကာဖိရ်များသည် တမန်တော်မြတ်အားပင်လျှင် ချွတ်ချော်ယိမ်းယိုင်သွားစေရန် အမျိုးမျိုး မြူဆွယ်ခဲ့ကြသေးသည်၊ ၎င်းတို့က တမန်တော်မြတ်အား ကုရ်အာန်ကျမ်းမြတ်လာ အာယတ်တော်များအနက် အချို့အဝက်ကို ၎င်းတို့အား ငဲ့ကွက်၍ ပြောင်းလဲပေးရန် သို့မဟုတ် လုံး၀ ထုတ်ပစ်ရန် ပြောဆိုခဲ့ကြသည်။ တစ်ခါတစ်ရံ ရာထူးဖြင့်လည်းကောင်း၊ တစ်ခါတစ်ရံ ဥစ္စာပစ္စည်းဖြင့် လည်းကောင်း၊ တစ်ခါတစ်ရံ မိန်းမချော မိန်းမလှတို့ဖြင့်လည်းကောင်း၊ မြူဆွယ်ခဲ့ကြသည်။ တစ်ခါတစ်ရံ ၎င်းတို့ကိုးကွယ်ရာ ရုပ်လုံးများနှင့် စပ်လျဉ်းသည့် အာယတ်တော်များကို ကုရ်အာန်ကျမ်းမြတ်မှ နုတ်ပယ်ထားလျှင် ကျွန်ုပ်တို့သည် အသင်၏ တပည့်ခံကြပါမည်ဟု ပြောဆိုခဲ့ကြသည်။

(မပြောကောင်းမဆိုအပ်) အကယ်၍သာ၊ တမန်တော်မြတ်သည် ယင်းကာဖိရ်တို့၏ စကားကို လိုက်လျောခဲ့မိပါလျှင်၊ ၎င်းတို့သည် တမန်တော်မြတ်အား မိမိတို့၏ မိတ်ဆွေရင်းချာပြုလုပ်ပြီး ဦးထိပ်တင်ထားကြပေမည်မှာ အမှန်ပင်။ သို့ရာတွင် ယင်းကာဖိရ်တို့၏ ကြိုးပမ်းမှုသည် အချည်းနှီးသာဖြစ်ခဲ့ချေသည်။ ၎င်းတို့၏ အထင်နှင့်အမြင်သည် မိုးမြေတမျှ ကွာခြားလျက်ရှိခဲ့ပေသည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်က ၎င်းတို့အား ယခု အသင်တို့ တင်ပြသောရာထူး၊ ဥစ္စာ၊ မိန်းမချောများကို မဆိုထားဘိ၊ အကယ်၍ အသင်တို့သည် တတ်နိုင်လျှင် ကျွန်ုပ်၏ လက်တစ်ဖက်တွင် နေကိုလည်းကောင်း၊ အခြားတစ်ဖက်တွင် လကိုလည်းကောင်း၊ ပေးအပ်ကြစေအံ့လည်း ကျွန်ုပ်သည် မိမိအား အလ္လာဟ်အရှင်မြတ်က ပေးအပ်တော်မူသည့် ➤➤

إِذًا لَّأَذَقْنَٰكَ ضِعْفَ ٱلْحَيَوٰةِ وَضِعْفَ ٱلْمَمَاتِ ثُمَّ لَا تَجِدُ لَكَ عَلَيْنَا نَصِيرًا ﴿٧٥﴾

၇၅။ ထိုအခါ ငါအရှင်မြတ်သည် အသင့်အား ဤအသက်ရှင်လျက်ရှိသော ပစ္စုပ္ပန်ဘဝ၏ နှစ်ဆနှင့် သေလွန်ပြီးနောင်ဘဝတွင် (ပြစ်ဒဏ်)နှစ်ဆကို မုချ *မြည်းစမ်းစေတော်မူမည်။* [၁] ထို့နောက် အသင်သည် ငါအရှင်မြတ်နှင့်ဆန့်ကျင်၍ မိမိတို့အဖို့ ကူညီစောင်မမည့်သူ တစ်ဦးတစ်ယောက်ကိုမျှပင် တွေ့ရှိလိမ့်မည် မဟုတ်ပေ။

---

➤➤ မွန်မြတ်သည့်တာဝန်ကိုမူ အနည်းငယ်စိုးစဉ်းမျှပင် စွန့်လွှတ်မည်မဟုတ်၊ ကျွန်ုပ်သည် အသက်ထက်ဆုံး မိမိ၏တာဝန်ကို မမိုတ်မသုန် ဆောင်ရွက်သွားမည်သာဖြစ်သည်ဟု ပွင့်လင်းစွာ ဖြေကြားတော်မူလိုက်လေသည်။

၂ (ركون) "ရုကန်" ဟူသည် အနည်းငယ်ယိမ်းယိုင်ခြင်း၊ စိတ်ဓာတ်အနည်းငယ် ယိမ်းယိုင်ခြင်းကို ဆိုလိုသည်။ ယင်းပုဒ်နှင့်တွဲ၍ "အနည်းငယ်မျှ" ဟူသောပုဒ်ကို ဒွန်တွဲသုံးနှုန်းထားတော်မူရာ ယခင် အနည်းငယ်သည် ပို၍ပင် နည်းသွားလေသည်။ ထို့နောက် တစ်ဖန် ယင်းပုဒ်၏အစတွင် (لَقَدْ كِدْتَّ) ဟူသော ကြိယာကို သုံးနှုန်းထားတော်မူပြန်ရာ အနည်းငယ် ယိမ်းယိုင်သွားမှုသည် နည်းသည်ထက်နည်းသွားရာမှ ထပ်မံနည်းသွားပြန်ရာ မရှိလောက်အောင်ပင် နည်းသွားလေသည်။

ဆိုလိုသည်ကား တမန်တော်မြတ်သည် "မအ်ဆူမ်" ဖြစ်တော်မူသည်။ အပြစ်အပေါင်းမှ ထိန်းသိမ်းကာကွယ်ပေးတော်မူခြင်းကို ခံရတော်မူသော ပုဂ္ဂိုလ်မြတ်ဖြစ်တော်မူသည်။ တမန်တော်မြတ်သည် ကာဖိရ်၊ မုရှ်ရစ်က်တို့အား အစ္စလာမ်အတွင်းသို့ ဝင်ရောက်လာကြသည်ကို အထူးလိုလားတော်မူသည်။ တစ်ဖက်တွင် ကာဖိရ်၊ မုရှ်ရစ်က်၏ ပရိယာယ်များသည် အလွန်ကြီးမားလှသည်။

အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား ထိန်းသိမ်းတော်မမူပါက တမန်တော်မြတ်သည်ပင်လျှင် လူ့သဘာဝအလျောက် ယင်းကာဖိရ်များဘက်သို့ မပြောပလောက်သည့် ယိမ်းယိုင်မှုမျိုးဖြင့် (မပြောကောင်းမဆိုအပ်) ယိမ်းယိုင်လုနီးပါး ဖြစ်သွားတော်မူနိုင်ပေသည်။ သို့ရာတွင် ယခုမူ အလ္လာဟ်အရှင်မြတ်၏ ကာကွယ်ထိန်းသိမ်းမှုကြောင့် တမန်တော်မြတ်၌ ထိုသည့် မပြောပလောက်သည့် ယိမ်းယိုင်မှုသည် ပင်လျှင် မပေါ်ပေါက်ခဲ့ပေ။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် တမန်တော်မြတ်၏ တက္ကဝါတရားသည် အဘယ်မျှ တည်ကြည်သည်ကို ကောင်းစွာသိရှိနိုင်ပေသည်။

၁ ပြစ်မှုတစ်ခုသည် တာဝန်မရှိသော သာမန်ပုဂ္ဂိုလ်များအဖို့ အပြစ်မကြီးလှသော်လည်း တာဝန်ရှိသော ပုဂ္ဂိုလ်များ အကြီးအကဲများအဖို့မှာကား ကြီးလေးလှပေသည်။ ဥပမာ-အာလင်မ်တစ်ပါးနှင့် ဂျာဟစ်လ်တစ်ယောက်၏အပြစ်သည် မတူပေ၊ ကျွန်မိန်းမနှင့် လွတ်လပ်သောအမျိုးသမီးများ၏ အပြစ်ချင်းသည်မတူပေ၊ (ကြည့်-ကုရ်အာန်၊ ၄:၂၅)။ သာမန်အမျိုးသမီးများနှင့် တမန်တော်မြတ်၏ ကြင်ရာတော်များ၏ အပြစ်ချင်းလည်း မတူပေ။ (ကြည့်-ကုရ်အာန် ၃၃:၃၀)။ လူသာမန်တို့နှင့် တမန်တော်များ၏ အပြစ်ချင်းလည်း မတူပေ၊ တမန်တော်မြတ်သည် အမြင့်မြတ်ဆုံး တာဝန်အကြီးဆုံးရှိသော ပုဂ္ဂိုလ်မြတ်ဖြစ်တော်မူသည်၊ အမြင့်မြတ်ဆုံး ဖြစ်တော်မူသည့်အလျောက် တာဝန်ပျက်ကွက်တော်မူပါက ပြစ်ဒဏ်မှာလည်း သူတစ်ပါးနှင့်မတူအောင် ခံစားတော်မူရမည်ဖြစ်သည်။



وَإِن كَادُوا لَيَسْتَفِزُّونَكَ مِنَ الْأَرْضِ لِيُخْرِجُوكَ مِنْهَا وَإِذًا لَّا يَلْبَثُونَ خِلَافَكَ إِلَّا قَلِيلًا ﴿٧٦﴾

၇၆။ စင်စစ်ဧကန် ၎င်းတို့သည် အသင့်အား ဤနိုင်ငံမှနှင်ထုတ်ကြရန် ခြောက်လှန့်အံ့ဆဲဆဲ ဖြစ်ခဲ့ကြကုန်၏။ စင်စစ် ထိုအခါ ၎င်းတို့သည်လည်း အသင်၏နောက်တွင် အနည်းငယ်မျှ (အချိန်ကာလ)မှ တစ်ပါး၊ နေနိုင်ကြမည်မဟုတ်ပေ။ [၁]

سُنَّةَ مَن قَدْ أَرْسَلْنَا قَبْلَكَ مِن رُّسُلِنَا وَلَا تَجِدُ لِسُنَّتِنَا تَحْوِيلًا ﴿٧٧﴾

၇၇။ အကြင်သူတို့နှင့်ပတ်သက်သော (ငါအရှင်မြတ်၏) *စည်းကမ်းကဲ့သို့ပင်။* [၂] ထိုသူတို့အား ငါအရှင်မြတ်သည် အသင်၏အလျင် မိမိ ရစူလ်တမန်တော်များအနက်မှ စေလွှတ်တော်မူခဲ့၏။ [ငါအရှင်မြတ်သည် အသင်၏အလျင် မိမိရစူလ်တမန်တော်များအနက်မှ စေလွှတ်တော်မူခဲ့သော ရစူလ်တမန်တော်များနှင့် ပတ်သက်သော ထုံးတမ်းစဉ်လာကဲ့သို့ပင်]။

---

➤➤ ထို့အတွက်ကြောင့်လည်း ဤအာယတ်တော်တွင် တမန်တော်မြတ်နှင့်ပတ်သက်၍ (မပြောကောင်း မဆိုအပ်) တမန်တော်မြတ်သည် ကာဖိရ်တို့၏ စကားများဘက်သို့ အနည်းငယ်စိုးစဉ်းမျှပင် ယိမ်းယိုင်သွားမိတော်မူပါက အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား ဤပစ္စက္ခတွင်လည်း အပြစ် နှစ်ဆ၊ နောင်တမလွန်ဘဝတွင်လည်း အပြစ် နှစ်ဆပေးတော်မူမည်ဟု ကြောက်မက်ဖွယ်ရာ မိန့်ဆို သတိပေးထားတော်မူခြင်းဖြစ်သည်။ ထိုအတွက်ကြောင့် တမန်တော်မြတ်သည် အမြဲတစေ ( اللهم لا تكلني الیٰ نفسی طرفة عين ) “အို-အလ္လာဟ်အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား မျက်စိတစ်မှိတ်မျှပင် ကျွန်တော်မျိုး၏စိတ်သို့ လွှဲအပ်တော်မမူပါလင့်” ဟု ဆုပန်ကြားတော်မူလေ့ရှိသည်။ ဆိုလိုသည်ကား အရှင်မြတ်သည် ကျွန်တော်မျိုးအား အမြဲထာဝစဉ် ထိန်းသိမ်းကာကွယ် စောင့်ရှောက်တော်မူပါဟူ၏။

(၁) ကာဖိရ်များသည် တမန်တော်မြတ်အား ခြောက်လှန့်၍တစ်မျိုး၊ နှိပ်စက်၍တစ်ဖုံ၊ နည်းမျိုးစုံတို့ဖြင့် မက္ကာမြို့တော်မှ နှင်ထုတ်ရန်ကြိုးစားခဲ့ကြ၏။ သို့ရာတွင် ၎င်းတို့ သိထားရမည်မှာ တမန်တော်မြတ်အား မက္ကာမြို့တော်မှ နှင်ထုတ်ကြပြီးနောက် ၎င်းတို့ကိုယ်တိုင်လည်း မက္ကာမြို့တော်တွင် ကြာမြင့်စွာနေနိုင်ကြမည်မဟုတ်ပေ။ ဤအတိုင်းပင် လက်တွေ့လည်း ဖြစ်ပေါ်လာခဲ့ပေသည်။ တမန်တော်မြတ်သည် ယင်းကာဖိရ်များ၏ နှိပ်စက်ညှဉ်းပန်းမှုများကြောင့် မက္ကာမြို့မှ မဒီနာမြို့သို့ ဟစ်ဂျရတ်ပြုလုပ်တော်မူခဲ့ရလေသည်။ သို့ ဟစ်ဂျရတ်ပြုလုပ်တော်မူပြီးနောက် (၂)နှစ်အတွင်းမှာပင် ဗဒ်ရ်စစ်ပွဲဖြစ်ပွားခဲ့၏။ ဗဒ်ရ်စစ်ပွဲတွင် မက္ကာမြို့ရှိ ကာဖိရ်အကြီးအကဲအားလုံးလိုလိုပင် မရှုမလှ သေကြေပျက်စီးသွားခဲ့ကြလေသည်။ ထို့နောက် (၅)နှစ် (၆)နှစ် အတွင်းမှာပင် မွတ်စ်လင်မ်တို့သည် မက္ကာမြို့တော်ကို ပြန်လည်အောင်နိုင်ခဲ့ကြလေသည်။ နောက်ဆုံး နှစ်အနည်းငယ်အတွင်းမှာပင် မက္ကာမြို့တော်၌သာမဟုတ် အာရေဗျကျွန်းဆွယ်တစ်ခုလုံး၌ပင် အစ္စလာမ်၏ ရန်သူဟူ၍ တစ်ယောက်မျှပင် မနေနိုင်တော့ပေ။

أَقِمِ الصَّلٰوةَ لِدُلُوْكِ الشَّمْسِ اِلٰى غَسَقِ الَّيْلِ وَقُرْاٰنَ الْفَجْرِ ؕ اِنَّ قُرْاٰنَ الْفَجْرِ كَانَ مَشْهُوْدًا ﴿۷۸﴾

၇၈။ (အို-နဗီတမန်တော်) အသင်သည် နေမွန်းလွဲချိန်မှစ၍ ညဥ့်မှောင်ချိန်အထိ ဆွလာတ်ဝတ်ပြုမှုကို ဆောက်တည်ပါလေ၊ ၎င်းပြင် မိုးသောက်ချိန် ဆွလာတ်ဝတ်ပြုမှုကို ဆောက်တည်ပါလေ။ [၁] ဧကန်မလွဲ မိုးသောက်ချိန် ဆွလာတ်ဝတ်ပြုမှုသည် (မလာအိကဟ်ကောင်းကင်တမန်များ) လာရောက်ချိန်ပင် ဖြစ်ချေသတည်း။ [၂]

---

(၂) အလ္လာဟ်အရှင်မြတ်၏ စွန္နတ်တော်ကား အခြားမဟုတ်၊ မြို့ရွာတစ်ခုတွင် တမန်တော်အား နှင်ထုတ်လျှင်၊ သတ်ဖြတ်လျှင်၊ ထိုမြို့ရွာသားများလည်း ထိုရွာတွင် ကြာရှည်စွာ နေကြရသည် မရှိချေ။ ထိုသို့သော ရွာသားတို့အား အလ္လာဟ်အရှင်မြတ်သည် ပြစ်ဒဏ်ခတ်တော်မူသည်၊ သို့မဟုတ် ၎င်းတို့၏အပေါ် ၎င်းတို့၏ ရန်သူများအား လွှမ်းမိုးစေတော်မူသည်။ သို့မဟုတ် ၎င်းတို့အပေါ်၌ ၎င်းတို့ နှင်ထုတ်လိုက်သော သို့မဟုတ် သတ်ဖြတ်လိုက်သော တမန်တော်၏ နောက်လိုက်တပည့်သားများအား အောင်နိုင်စေတော်မူသည်။

(၁) တမန်တော်မြတ်သည် ကာဖိရ်၊ မုရှ်ရစ်က်တို့၏ သွေးဖည်မှု၊ မလိုမုန်းတီးမှုများနှင့် ၎င်းတို့၏ အကြံအစည်များကို ဂရုမူရန်မလိုပေ။ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ရမည်၊ စနစ်တကျ အချိန်မှန်မှန် ဆွလာတ်ဝတ်ပြုရမည်၊ ဆွလာတ်ဝတ်ပြုခြင်းသည် အလ္လာဟ်အရှင်မြတ်နှင့် အဆက်အသွယ်ထားခြင်းပင်ဖြစ်သည်။ ထိုအရှင်မြတ်နှင့် အဆက်အသွယ်ထားခြင်းသည် ဘေးဒုက္ခအပေါင်းကို ကင်းဝေးစေနိုင်သည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ်(၂း၄၅-၄၆)တွင် မိန့်ဆိုထားတော်မူသည်။

**ဆွလာတ်ငါးကြိမ်။**

ဤအာယတ်တော်ကို စဉ်းစားဆင်ခြင်ပါက ဆွလာတ်ငါးကြိမ်သည် ဤအာယတ်တော်တွင် အကျုံးဝင်နေသည်ကို တွေ့ရှိရပေမည်။

ဤအာယတ်တော်တွင် ဆွလာတ် ငါးကြိမ်စလုံး အကျုံးဝင်လျက်ရှိသည်။ မွန်းလွဲချိန်တွင် ဇိုဟ်ရ်နှင့် အဆ်ဆွ်ရ် အကျုံးဝင်သည်။ ညဥ့်မှောင်ချိန်တွင် မဃ်ရစ်ဗ်နှင့် အီရှာအကျုံးဝင်သည်။ မိုးသောက်ချိန်တွင် ဖဂျ်ရ် အကျုံးဝင်သည်။ မအာလင်မ်။

(၂) ဟဒီးဆ်တော်များတွင် လာရှိသည်မှာ နေ့တာဝန်ကျသော ကောင်းကင်တမန်များနှင့် ညဥ့်တာဝန်ကျသော ကောင်းကင်တမန်များသည် ဖဂျ်ရ်နှင့် အဆ်ဆွ်ရ်အချိန်များတွင် တာဝန်လွှဲပြောင်း ကြသည်။ ထို့အတွက် ထိုအချိန်-၂-ခုစလုံးတွင် နေ့တာဝန်ကျသော ကောင်းကင်တမန်များနှင့် ညဥ့်တာဝန်ကျသော ကောင်းကင်တမန်များသည် ဆုံမိကြသည်၊ စုရုံးမိကြသည်။ သို့အားဖြင့် ထိုအချိန်များတွင် ဆောက်တည်သော ဆွလာတ်ဝတ်ပြုမှုကို နေ့တမန်၊ ညဥ့်တမန်များအားလုံးပင် တွေ့မြင်သွားကြရပေသည်။ ဤသည် ဆွလာတ်ဝတ်ပြုသူများအဖို့ ပို၍ပင် ကြည်နူးဖွယ်ရာ ဖြစ်ပေသည်။

ထိုအချိန်တွင် ပြန်သွားကြသော ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင် "အရှင်မြတ်၏ ကျွန်များသည် ကျွန်တော်မျိုးတို့သွားခဲ့စဉ်ကလည်း ဆွလာတ်ဝတ်ပြုလျက်ရှိကြပါသည်၊ ကျွန်တော်မျိုးတို့ ပြန်လာခဲ့စဉ်ကလည်း ဆွလာတ်ဝတ်ပြုလျက်ပင်ရှိကြပါသည်"ဟု မိမိတို့ကိုယ်တွေ့များကို ➤➤

وَمِنَ الَّيْلِ فَتَهَجَّدْ بِهٖ نَافِلَةً لَّكَ ۖ عَسٰٓى اَنْ يَّبْعَثَكَ رَبُّكَ مَقَامًا مَّحْمُوْدًا ﴿٧٩﴾

၇၉။ ထိုမှတစ်ပါး(အို–နဗီတမန်တော်) အသင်သည် ညဥ့်၌တစ်ဖန် "တဟဂျ်ဂျုဒ်ဆွလာတ်" [၁] ကိုလည်း မိမိ၌အပို(တာဝန်)အဖြစ် ဆောက်တည်ပါလေ၊ အမှန်စင်စစ် အသင့်အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်သည် "မကာမု မဟ်မူဒ်" [၂] သို့ အသင့်အား ပို့တော်မူအံ့သတည်း။

---

➤➤ လျှောက်ထားသက်သေခံကြပေမည်။ ထို့ပြင်တစ်ဝ ဖဂျ်ရ်အချိန်သည် စိတ်အလွန်ကြည်နူးဖွယ်ရာကောင်းသော အချိန် ဖြစ်ပေသည်။

(၁) "တဟဂျ်ဂျုဒ်" ဟူသော သဒ္ဒါသည် ညဥ့်တွင် အိပ်ရာမှ နိုးထခြင်းအနက်ကို ဟောသည်။ သို့ရာတွင် ရှရီအတ်တွင် ညဥ့်သန်းခေါင်ယံအချိန် နိုးထ၍ ဆွလာတ်တဟဂျ်ဂျုဒ် ဝတ်ပြုခြင်းကို ဆိုလိုသည်။

တဟဂျ်ဂျုဒ်သည် တမန်တော်မြတ်အဖို့ ဆွလာတ်ငါးကြိမ်အပြင် ဖရဿ္ဂ တာဝန်အဖြစ်နှင့်သော်လည်းကောင်း၊ နဖ်လ်(အပို)အဖြစ်နှင့်သော်လည်းကောင်း၊ တာဝန်ရှိခဲ့သည်။ အုမ္မတ်သားတို့ အဖို့မှာကား ဖရဿ္ဂမဟုတ်၊ နဖ်လ်သာ ဖြစ်သည်။

တဟဂျ်ဂျုဒ်သည် မလွယ်ကူပေ၊ ညဥ့်အချိန် အိပ်ရာမှနိုးထ၍ ဝတ်ပြုရခြင်းဖြစ်သည့်အတွက် တာဝန်ကြီးလေးလှသည်၊ သို့ရာတွင် သို့တာဝန်ကြီးလေးလှသည့် အလျောက် ကုသိုလ်အကျိုးလည်း ကြီးမားလှပေသည်။

သာဝကကြီး အဗူဟိုရိုင်ရာဟ်ထံမှ တစ်ဆင့်ကြားသိရ၏။ တမန်တော်မြတ်အား ဖရဿ္ဂဆွလာတ်များနောက် အမြင့်မြတ်ဆုံးသော ဆွလာတ်မှာ အဘယ်ဆွလာတ်ပါနည်းဟု မေးလျှောက်ရာ တမန်တော်မြတ်က ညဥ့်၏ဆွလာတ်(ဝါ)တဟဂျ်ဂျုဒ်ဖြစ်သည်ဟု ဖြေကြားတော်မူလိုက်လေသည်။ အိဗ်နုကဆီရ်။ အ–၃။စ–၅၄။

"တဟဂျ်ဂျုဒ်' သည် အနည်းဆုံး ၄–ရာကအတ်၊ အများဆုံး ၁၂–ရာကအတ်ဖြစ်သည်။ အလျင်းမသင့်က ၂–ရာကအတ်နှင့်လည်း ပြီးနိုင်ပေသည်။ ညဥ့်သန်းခေါင်ယံ နိုးထပြီး တဟဂျ်ဂျုဒ် ဆွလာတ်ဝတ်ပြုရန် သတ္တိမရှိပါက ဆွလာတ်အိရှာအပြီးတွင် ဝတ်ပြုနိုင်ပေသည်။ သို့ရာတွင် ညဥ့်သန်းခေါင်ယံဝတ်ပြုခြင်း၏ အကျိုးတမျှကား ရနိုင်မည်မဟုတ်ပေ။ ကြည့်–ဗဟာစ်ရှ်တီ ဇေဝရ်၊ အ–၂။ စ–၂၈–၂၉။

(၂) သာဝကကြီး အဗူဟိုရိုင်ရာဟ်ထံမှ တစ်ဆင့်ကြားသိရ၏။ ထိုသာဝကကြီးက တမန်တော်မြတ်ထံမှ တစ်ဆင့်ကြားသိခဲ့၏။ တမန်တော်မြတ်က မကာမိမဟ်မူဒ်ဟူသည် အကြင်ဌာနပင်ဖြစ်သည်၊ ယင်းဌာနတွင် ကျွန်ုပ်သည် မိမိ၏ အုမ္မတ်သားများအဖို့ အသနားခံပေးမည်ဖြစ်သည်ဟု မိန့်ကြားတော်မူခဲ့လေသည်။ အိဗ်နုကဆီရ်။

"မကာမိမဟ်မူဒ်" ဟူသည် ဂျွန်မ်ဟူရ်အာလင်မ်အများစုကြီး၏ ယူဆချက်အရ (တမန်တော်မြတ်) ရှဖာအတ် အသနားခံပေးတော်မူမည့် ဌာနပင်ဖြစ်သည်။ ဂျတ်ဆ်ဆွာဆ်။

"မကာမိမတ်မူဒ်"၌ တမန်တော်မြတ် ရှဖာအတ် ပြုလုပ်တော်မူမည့်အကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်(၂း၄၈)၏အဖွင့်၊ အောက်ခြေတွင်လည်း ရေးသားခဲ့ပေပြီ။ အကျယ် သိလိုပါက ခါဇင်န်ကျမ်းတွင် ရှုပါကုန်။

၈၀။ ၎င်းပြင် အသင်သည် "အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား (မဒီနဟ်မြို့တော်သို့) နှစ်သက်ကောင်းမွန်စွာ ဝင်ရောက်စေခြင်းမျိုးနှင့်ဝင်ရောက်စေတော်မူပါ။ ထိုနည်းတူစွာ အရှင်မြတ်သည် ကျွန်တော်မျိုးအား (မက္ကဟ်မြို့တော်မှ)နှစ်သက်ကောင်းမွန်စွာ ထွက်စေခြင်းမျိုးနှင့် ထွက်စေတော်မူပါ။ [၁] ထိုမှတစ်ပါး အရှင်မြတ်သည် ကျွန်တော်မျိုးအား မိမိအထံတော်မှ ကူညီစောင်မမည့် အားအင်စိုးမိုးမှုကို ချီးမြှင့်ပေးသနားတော်မူပါ" ဟု လျှောက်ထားလျက်ရှိပါလေ။ [၂]

وَقُلْ رَّبِّ أَدْخِلْنِي مُدْخَلَ صِدْقٍ وَأَخْرِجْنِي مُخْرَجَ صِدْقٍ وَاجْعَل لِّي مِن لَّدُنكَ سُلْطَانًا نَّصِيرًا ﴿٨٠﴾

၈၁။ ထို့ပြင် အသင်သည် (ဤသို့) ပြောကြားပါလေ။ "အမှန်သည် ရောက်ရှိလာခဲ့ချေပြီ၊ ၎င်းပြင် အမှားသည် ပျောက်ကွယ်သွားခဲ့လေပြီ၊ ဧကန်မလွဲ အမှားသည် ကွယ်ပျောက်မည့်အရာပင် ဖြစ်ခဲ့ပေသတည်း။ [၃]

وَقُلْ جَاءَ الْحَقُّ وَزَهَقَ الْبَاطِلُ ۚ إِنَّ الْبَاطِلَ كَانَ زَهُوقًا ﴿٨١﴾

---

(၁) ဆိုလိုသည်ကား ဟစ်ဂျ်ရတ်ပြုလုပ်ရန် အချိန်ကျရောက်လာသည့်အခါ ကျွန်တော်မျိုးအား ဟစ်ဂျ်ရတ်ပြုရာဌာနတွင် (ဝါ) မဒီနာမြို့တွင် ကောင်းမွန်အေးချမ်းစွာ ဝင်ရောက်နိုင်စွမ်း ပေးတော်မူပါ၊ ထို့အတူ ကျွန်တော်မျိုးအား ဟစ်ဂျ်ရတ်ပြုလုပ်သည့်အချိန် စတင်ထွက်ခွာရာဌာန(ဝါ) မက္ကာမြို့တော်မှ ကောင်းမွန်အေးချမ်းစွာ ထွက်ခွာနိုင်စွမ်း ပေးတော်မူပါဟူ၏။ ဝင်ရောက်ရာဌာနဟူသည် မဒီနာမြို့ကို ဆိုလိုသည်။ ထွက်ခွာရာဌာနဟူသည် မက္ကာမြို့တော်ကို ဆိုလိုသည်။

(၂) **ဓမ္မစက်နှင့် အာဏာစက်။**

ဆိုလိုသည်ကား အရှင်မြတ်သည် ကျွန်တော်မျိုးအား အရှင်မြတ်၏ ကူညီထောက်မမှုနှင့် ဒွန်တွဲလျက်ရှိသော လွှမ်းမိုးမှုအာဏာ(အစိုးရအာဏာ)တို့ကို ပေးတော်မူပါ၊ သို့မှသာလျှင် အမှန်တရား ထွန်းကားပေမည်။ မမှန်သောတရား ပျောက်ကွယ်ပေမည်။ အမှန်တရားကို သွေဖည်ဆန့်ကျင်၍ ဆိုးသွမ်းသောင်းကျန်းသူများလည်း နိမ့်ကျသွားကြပေမည်။ လူ့လောကတွင် ကောင်းကင်မှဖြစ်စေ၊ မြေပြင်မှဖြစ်စေ တရားဥပဒေတစ်ခု ရှိရပေမည်။

ထိုသည့်တရားဥပဒေ တည်ရှိစိုးမိုးရန်အတွက် အစိုးရ၏ အကူအညီ လိုပေသည်။ အဘယ်ကြောင့် ဆိုသော် အချို့သောသူများသည် ခိုင်လုံသော သက်သေသာဓကေ မှန်ကန်သော သက်သေ အထောက်အထားများနှင့်တကွ အမှန်တရားကို သိမြင်ကြပြီးသည့်နောက်တွင်လည်း အမှန်တရားကို သွေဖည်ကြသည်။ တိုင်းပြည်တွင် ဆူပူသောင်းကျန်းကြသည်။ ထိုသို့သောသူများအား အစိုးရအာဏာနှင့်သာလျှင် ကွပ်ကဲနိုင်ပေသည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၅၇း၂၅)တွင်လည်း ထုတ်ဖော်မိန့်ဆိုထားတော်မူပေသည်။ [ဆိုလိုသည်ကား-ဓမ္မစက်တည်ရန် အာဏာစက်လိုပေသည်။]

وَنُنَزِّلُ مِنَ الْقُرْاٰنِ مَا هُوَ شِفَآءٌ وَّرَحْمَةٌ لِّلْمُؤْمِنِيْنَ ۙ وَلَا يَزِيْدُ الظّٰلِمِيْنَ اِلَّا خَسَارًا ﴿٨٢﴾

၈၂။ စင်စစ် ငါအရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်တွင် မုအ်မင်န် သက်ဝင်ယုံကြည်သူတို့၏ အနာရောဂါကင်းပျောက်စေသောအရာကို ချပေးသနားတော်မူလေသည်။ သို့ရာတွင် ထိုအရာသည် မတရားကျူးလွန်သူတို့၌ ဆုံးရှုံးမှုမှတစ်ပါး (အခြားတစ်စုံတစ်ရာ)ကို တိုးပွားစေသည် မဟုတ်ပေ။ [၁]

---

(၃) "အမှန်ရောက်ပြီ၊ အမှားပျောက်ပြီ" ဟူသော ဗျာဒိတ်တော်ကျရောက်လာစဉ်၊ မက္ကာမြို့တွင် မွတ်စ်လင်မ်များသည် ကာဖိရ်၊ မုရှ်ရစ်က်တို့၏ နှိပ်စက်ညှဉ်းပန်းခြင်းများကို အလူးအလိမ့် ခံနေရသော အချိန်ပင်ဖြစ်သည်။ ထိုအချိန်မျိုးတွင် မွတ်စ်လင်မ်များသည် ကာဖိရ်၊ မုရှ်ရစ်က်တို့အား လွှမ်းမိုးရန် မျက်မြင်အားဖြင့် အိပ်မက်ပင် မမြင်မက်နိုင်ခဲ့ကြပေ။ ထိုသို့သော အချိန်အခါမျိုး၌ပင် ဤအာယတ်တော် ကျရောက်လာခဲ့လေသည်။ ဆိုလိုသည်ကား – ကုရ်အာန်ကျမ်းမြတ်သည် မုအ်မင်န်တို့အား ကောင်းချီးသတင်းပေးလျက်၊ ကာဖိရ်၊ မုရှ်ရစ်က်တို့အား ချေမှုန်းလျက် ရောက်ရှိလာချေပြီ၊ အမှန်တရားရောက်ပြီ၊ အမှားပျောက်ပြီ၊ အစ္စလာမ့်အောင်လံ တလူလူဖြစ်ပြီ။

သို့ဗျာဒိတ်တော်ကျရောက်လာခဲ့သည့်အတိုင်း ကုဖ်ရ်၊ ရှရစ်က် စသည့် မိစ္ဆာတရားများသည် နှစ်အနည်းငယ်အတွင်း မက္ကာမြို့အတွင်းမှသာမက အာရေဗျကျွန်းဆွယ်တစ်ခုလုံးမှ ပျောက်ခြင်းကြီးမက ပျောက်ကွယ်သွားခဲ့လေသည်။

တမန်တော်မြတ်သည် ဟစ်ဂျ်ရီသက္ကရာဇ်(၈)ခုနှစ်တွင်၊ မက္ကာမြို့တော်ကို ပြန်လည်အောင်နိုင်၍ ကအ်ဗဟ်ကျောင်းတော်သို့ ကြွရောက်လာတော်မူခဲ့၏။ ထိုအချိန်တွင် ကျောင်းတော်၏ ပတ်ဝန်းကျင်၌ ကာဖိရ်၊ မုရှ်ရစ်က်တို့ တည်ထားကိုးကွယ်ခဲ့ကြသော ဆင်းတုတော်(၃၆၀)တိတိ ရှိနေခဲ့သည်။ တမန်တော်မြတ်သည်

(جَآءَ الْحَقُّ وَزَهَقَ الْبَاطِلُ ۚ اِنَّ الْبَاطِلَ كَانَ زَهُوْقًا) (جَآءَ الْحَقُّ وَمَا يُبْدِئُ الْبَاطِلُ وَمَا يُعِيْدُ)

ဟူသော အာယတ်တော်ကို ရွတ်ဖတ်တော်မူလျက် မိမိလက်တွင်ပါရှိသော တုတ်ဖြင့် ဆင်းတုတော်များကို ထိုးပုတ်ရာ ဆင်းတုအားလုံးတို့သည် အသီးသီး ပြိုလဲပျက်စီးသွားခဲ့လေသည်။ ကအ်ဗဟ်ကျောင်းတော်မှ ထွက်ပြေးသွားခဲ့သော ကုဖ်ရ်၊ ရှရစ်က် မိစ္ဆာတရားသည် နောက်နောင်ဘယ်သောအခါ၌မျှ ပြန်လာနိုင်တော့မည်လည်း မဟုတ်ပေ။ ဤနည်းအားဖြင့် ကုရ်အာန်ကျမ်းလာ ဗျာဒိတ်တော်သည်အတည်ဖြစ်ခဲ့ချေပြီ။

(၁) "အမှန်ရောက်၊ အမှားပျောက်" သကဲ့သို့ ကုရ်အာန်ကျမ်းလာ အာယတ်တော်များဖြင့် အတွင်းရောဂါများလည်း ပျောက်ကင်းသွားပေသည်။ စိတ်အတွင်းမှ မှားယွင်းသော အယူအဆ အတွေးအခေါ်များ၊ ညစ်ညမ်းသောအကျင့်များ၊ ဒွိဟသံသယမှုများ ကင်းပျောက်ပြီး အတွင်းစိတ်ဓာတ်သည် စင်ကြယ်သန့်ရှင်း အပြစ်ကင်း၍ ကြည်လင်ရင့်ကျက်ကောင်းမွန်လာပေသည်။ ကုရ်အာန်ကျမ်းလာ အာယတ်တော်များဖြင့် အဇ္ဈတ္တအတွင်းရောဂါများ ပျောက်ကင်းသကဲ့သို့ပင် ဗဟိဒ္ဓအပြင်ရောဂါများပင် ပျောက်ကင်းသည်ကို တွေ့ရှိရပေသည်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ရှဟူလ်မအာနီ၊ ဇာဒွလ်မအာဒ် ကျမ်းများတွင် အကျယ်တဝင့် ဖွင့်ရေးသားထားသည်ကို တွေ့ရှိရသည်။

ဆိုလိုသည်ကား စိတ်စေတနာဖြူစင်စွာဖြင့် အီမာန်ယုံကြည်၍ ကုရ်အာန်ကျမ်းမြတ်တည်းဟူသော ရောဂါစုံပျောက်ကင်းစေနိုင်သည့် မဟာဆေးကျမ်းတော်ကို စနစ်တကျအသုံးပြုပါက အဇ္ဈတ္တ၊ ဗဟိဒ္ဓ၊ ရုပ်၊ ➤➤

وَإِذَآ أَنۡعَمۡنَا عَلَى ٱلۡإِنسَٰنِ أَعۡرَضَ وَنَـَٔا بِجَانِبِهِۦۖ وَإِذَا مَسَّهُ ٱلشَّرُّ كَانَ يَـُٔوسٗا ﴿٨٣﴾

၈၃။ အမှန်စင်စစ် ငါအရှင်မြတ်သည် လူသား၏ အပေါ်၌ ကျေးဇူး ပြုလေတော်မူသောအခါဝယ်၊ ၎င်းသည် မျက်နှာလွှဲ၍ ဝေးစွာ ဖယ်ရှောင်သွားလေ့ရှိပေသည်၊ သို့ရာတွင် ယင်းလူသား၌ ဘေးဒုက္ခရောက်လေသော် ၎င်းသည် မျှော်လင့်ချက်ကင်းသူ ဖြစ်သွားလေတော့သတည်း။ ၁

➤➤ နာမ်၊ အတွင်း၊ အပြင် ရောဂါများ ပျောက်ကင်း၍ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို အထူးခိုလှုံကြရမည်မှာ မုချပင်။ သို့ရာတွင် အကြင်ရောဂါသည် တစ်ဦးသည် မိမိကိုယ်တိုင် မိမိ၏အသက်၏ ရန်သူဖြစ်နေအံ့၊ ဆေးဝါးကုသခြင်းကိုပင် စက်ဆုပ်ရွံရှာ မုန်းတီးအံ့။ ထိုသို့သော ရောဂါသည်သည် ဆေးဝါးကို မှီဝဲမည် မဟုတ်၊ ဝေးစွာရှောင်ရှား၍ နေပေမည်။ ရောဂါသည်လည်း တစ်နေ့တစ်ခြား ဆိုးရွားပြင်းထန်၍ လာပေမည်။ နောက်ဆုံးတွင် ထိုရောဂါသည်သည် အသေဆိုးဖြင့် နိဂုံးချုပ်သွားပေမည်။ ယခုကဲ့သို့ ထိုရောဂါသည် သေဆုံးရခြင်းမှာ ကုရ်အာန်ကြောင့် အလျှင်းမဟုတ်၊ မိမိကိုယ်ကို မိမိသတ်ခြင်းသာဖြစ်သည်။ ဤကား မည်သူမပြု မိမိမှုပင်တည်း။ ဤသို့သောသူများနှင့် ပတ်သက်၍ ကုရ်အာန်ကျမ်းမြတ်(၉း၁၂၅)တွင်လည်း ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။ သက်ဆိုင်ရာအဖွင့်ကို ပြန်လည်ရှုပါ။

① **လူ့သဘာဝ။**

လူသား၏အဖြစ်သည် အံ့ဖွယ်ပင်၊ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ကျေးဇူးတော်ဖြင့် ၎င်းအား သုခချမ်းသာမှုများ ပေးသနားတော်မူသည့်အခါ လူသားသည် ကျေးဇူးမသိတတ်ပေ၊ သုခချမ်းသာ ပိုမိုများပြားလာသည်နှင့်အမျှ ကျေးဇူးတော်ရှင်ဘက်မှ သွေဖည်မှုလည်း ပိုမိုများပြားလာပေသည်၊ အမိန့် ပညတ်တော်များကို လိုက်နာကျင့်သုံးရာမှ ကျောပေးမှု၊ ရှောင်ခွာမှုလည်း ပိုမိုများပြားလာပေသည်။ ဤကား လောကီစည်းစိမ်များတွင် နစ်မွန်းနေသောအချိန်၌ လူသား၏ အခြေအနေဖြစ်သည်။

ထို့နောက် မည်သူမပြု မိမိမှုဆိုသကဲ့သို့ လူသား၌ဘေးဒုက္ခများ ဆိုက်ရောက်လာလျှင် ယင်းလူသားသည် မျှော်လင့်ချက် လုံးဝကင်းပြီး ခြေပစ်လက်ပစ် ဘုတ်ထိုင်ထိုင်သွားလေတော့သည်။ ဆိုလိုသည်ကား လူသားသည် သုခဖြစ်သည့်အချိန်တွင်လည်းကောင်း၊ ဒုက္ခဖြစ်သည့်အချိန်တွင်လည်းကောင်း အလ္လာဟ်အရှင်မြတ်နှင့် အဆက်အသွယ်မရှိပေ။ သုခဖြစ်သည့်အခါ လောကီစည်းစိမ်များတွင် နစ်မွန်းပြီး အလ္လာဟ်အရှင်မြတ်အား မေ့နေလေသည်။ ဒုက္ခရောက်ပြန်သော် မျှော်လင့်ချက်ကင်းပြီး အလ္လာဟ်အရှင်မြတ်အား မေ့ပြန်လေသည်။ ဤကား ကျေးဇူးကန်းတို့၏ သဘာဝတည်း။

ဤနေရာတွင် ဤသည့်အကြောင်းကို ထုတ်ဖော်မိန့်ဆိုထားတော်မူခြင်းမှာ ကုရ်အာန်ကျမ်းမြတ်သည် လူသားတို့အဖို့ အလ္လာဟ်အရှင်မြတ်၏ အကြီးဆုံးသော ကျေးဇူးတော် တစ်ပါးပင် ဖြစ်သည်။ သို့ပါလျက် အချို့လူသားတို့သည် ကုရ်အာန်ကျမ်းမြတ်ကို တန်ဖိုးမထားကြပေ။ ကုရ်အာန်ကျမ်းလာဒေသနာတော်များကို လျစ်လျူပြုကြသည်။ သွေဖည်ကျောခိုင်းကြသည်။ ယင်းသို့သွေဖည်ကျောခိုင်းသောသူများသည် မိမိတို့၏ ကျေးဇူးကန်းမှု သွေဖည်ကျောခိုင်းမှုများကြောင့် ဘေးဒုက္ခတွေ့ကြသောအခါ၊ လုံးဝမျှော်လင့်ချက်ကင်း၍ ခြေပစ်လက်ပစ် ဘုတ်ထိုင်ထိုင် သွားကြလေသည်။

قُلْ كُلٌّ يَعْمَلُ عَلَىٰ شَاكِلَتِهِۦ فَرَبُّكُمْ أَعْلَمُ بِمَنْ هُوَ أَهْدَىٰ سَبِيلًا ﴿٨٤﴾

၈၄။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) ပြောကြားပါလေ၊ လူတိုင်းလူတိုင်းသည် မိမိနည်းလမ်းအတိုင်းပင် ကျင့်မူလေ့ရှိပေသည်။ သို့ရာတွင် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် မည်သူက လမ်းမှန်ဆုံးသောသူဖြစ်သည်ကို အသိတော်မူဆုံး အရှင်မြတ် ဖြစ်တော်မူလေသတည်း။

وَيَسْـَٔلُونَكَ عَنِ ٱلرُّوحِ ۖ قُلِ ٱلرُّوحُ مِنْ أَمْرِ رَبِّى وَمَآ أُوتِيتُم مِّنَ ٱلْعِلْمِ إِلَّا قَلِيلًا ﴿٨٥﴾

၈၅။ စင်စစ် ၎င်းတို့သည် အသင့်အား 'ရူဟ်' [၁] အသက်ဇီဝိန်နှင့် စပ်လျဉ်း၍ မေးမြန်းကြကုန်၏။ အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့) အသက်ဇီဝိန်သည် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ အမိန့်တော်အတိုင်း ဖြစ်လာသည်။ စင်စစ် အသင်တို့သည် အနည်းငယ်မျှသော အသိပညာကိုသာ ချီးမြှင့်ပေးသနားတော်မူခြင်းခံခဲ့ကြရကုန်သတည်း။

---

(၁) "ရူဟ်" ၏ မူရင်းအနက်မှာ အကြမ်းအားဖြင့် အသက် (ဇီဝိန်၊ ဝိညာဉ်) ဟူ၍ရသည်။ ဤအာယတ်တော်တွင် ပါရှိသော "ရူဟ်" ၏အနက်ကို မုဖတ်စ်စစ်ရ်များသည် ...

(၁) အသက် ဟူ၍လည်းကောင်း၊

(၂) ကောင်းကင်တမန် ဂျိဗ်ရီလ် ဟူ၍လည်းကောင်း၊

(၃) ကုရ်အာန် ဟူ၍လည်းကောင်း။

(၄) အလွန်ကြီးမားအံ့ဖွယ်ရာသော ကောင်းကင်တမန်တစ်ပါး ဟူ၍လည်းကောင်း အမျိုးမျိုး ဖွင့်ဆိုကြသည်။

ဤတွင် မော်လာနာထာနဝီ သခင်၏အဖွင့်ကို အောက်တွင် ဖော်ပြလိုပေသည်။

**ထာနဝီသခင်၏အဖွင့်။**

အမြင်အားဖြင့် ဤအာယတ်တော်တွင်ပါရှိသည့် မေးခွန်းသည် လူသားတို့အား ရှင်စေသော (ရူဟ်) အသက်နှင့်ပင် စပ်လျဉ်းသည် ဟူ၍ သိရှိရပေသည်။ အဘယ်ကြောင့်ဆိုသော် "ရူဟ်" ဟူသော ပုဒ်ကို တစ်ပုဒ်ထီးသုံးနှုန်းထားသည့်အခါ ဤအသက်ဟူသောအနက်၌ပင် ကောက်ယူရာ၏။

အဖြေကို ထောက်ရှုခြင်းအားဖြင့် "ရူဟ်" ၏ အဖြစ်ရပ်မှန်ကို အတိအကျ ထုတ်ဖော်မပြခြင်း၏ အကြောင်းမှာ လူသားတို့၏ အသိဉာဏ်နည်းပါးလှခြင်းဖြစ်ကြောင်းနှင့် "ရူဟ်"သည် ထာဝရမဟုတ် အခြား အဖန်ဆင်းခံများကဲ့သို့ အဖန်ဆင်းခံသခ်ါရ ပစ္စည်းတစ်ခုသာဖြစ်ကြောင်း ကောင်းစွာ သိရှိရပေသည်။ ထာနဝီ။

ဤအကြောင်းနှင့်စပ်လျဉ်း၍ အွတ်ဆ်မာနီသခင်က အကျယ်တဝင့် ဖွင့်ဆိုရေးသားထားသည်၊ ➤➤

တနည်း။

စင်စစ် ၎င်းတို့သည် အသင့်အား (စမ်းသပ်လိုသောအားဖြင့်) ရူဟ်(၏အဖြစ်အမှန်)ကို မေးမြန်းကြကုန်၏။ အသင်သည် (၎င်းတို့အား ဤသို့ပြောဆို (ဖြေကြား)ပါလေ။ (အချင်းတို့) ရူဟ်(နှင့်စပ်လျဉ်း၍ အကျဉ်းအားဖြင့် ဤသို့ သိထားကြလေကုန်၊ ယင်းရူဟ်)သည်၊ ငါ့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်၏ အမိန့်တော်အတိုင်း ဖြစ်လာ(သော အရာဝတ္ထုဖြစ်ပေ)သည်။ စင်စစ် (ယင်း၏)အဖြစ်အမှန်မှာမူကား အသင်တို့သည် (မိမိတို့၌ရှိသောအသိဉာဏ်နှင့်အမျှ) အနည်းငယ်လိုအပ်သမျှသော အသိပညာကိုသာ ချီးမြှင့်ပေးသနားတော်မူခြင်း ခံခဲ့ကြရ(သဖြင့် ယင်းရူဟ်၏ အဖြစ်အမှန်ကို သိနားလည်နိုင်ကြမည်လည်း မဟုတ်သောကြောင့်လည်းကောင်း၊ အသင်တို့အဖို့ လိုအပ်သော ပညာလည်းမဟုတ်သောကြောင့်လည်းကောင်း၊ ဖော်ပြခြင်းမပြုဘဲ ထားရှိခြင်း ဖြစ်)ပေသည်။ ထာနဝီ။

---

➤➤ အိဗ်နုကိုင်ယင်မ်ကလည်း "ကိတာဗုရ်-ရူဟ်" အမည်ဖြင့် ကျမ်းတစ်စောင် သီးသန့်ရေးသားထားသည်။

ရူဟ်နှင့် စပ်လျဉ်းသည့် အဆိုအရပ်ရပ်အနက် အသင့်မြတ်ဆုံးအဆိုမှာ "ရူဟ်" နှင့် စပ်လျဉ်းသည့် အသိဉာဏ်သည် အလ္လာဟ်အရှင်မြတ်၌သာ ရှိသည်ဟူ၍ ထိုအရှင်မြတ်အား ယုံပုံလွှဲအပ်ခြင်းပင် ဖြစ်သည်။ ဤသည် အဟ်လေ့စွန္နတ်၏ အဆိုပင်။

အဗ်ဒွလ္လာဟ် အိဗ်နု ဗုရိုင်ဒဟ်က "အလ္လာဟ်အရှင်မြတ်သည် ရူဟ်နှင့် စပ်လျဉ်း၍ မည်သည့်ကောင်းကင်တမန်ကိုသော်လည်းကောင်း၊ မည်သည့် တမန်တော်မျှကိုသော်လည်းကောင်း၊ အသိပေးတော်မမူခဲ့ချေ။ ဤသည့်အချက်ကို ( قُلِ الرُّوحُ مِنْ أَمْرِ رَبِّي ) ဟူသော အာယတ်တော်က ညွှန်းလျက်ရှိသည်။ (ဝါ) ရူဟ်သည် အလ္လာဟ်အရှင်မြတ် မိမိအဖို့ သီးသန့်ပြုလုပ်ထားတော်မူသော အရာသာဖြစ်သည်။ (ထိုအရှင်မှ တစ်ပါးအခြားမည်သူမျှ မသိချေ)။ ခါဇင်န်။ အ-၄။စ-၁၄၈။

وَلَئِنْ شِئْنَا لَنَذْهَبَنَّ بِالَّذِيٓ أَوْحَيْنَآ إِلَيْكَ ثُمَّ لَا تَجِدُ لَكَ بِهِۦ عَلَيْنَا وَكِيلًا ﴿٨٦﴾

၈၆။ စင်စစ် အကယ်၍ ငါအရှင်မြတ်သည် အလိုရှိတော်မူခဲ့ပါလျှင် အသင်၏အထံသို့ ငါအရှင်မြတ် ထုတ်ပြန်ချမှတ်တော်မူခဲ့သည့် *(ကုရ်အာန်ကျမ်းတော်မြတ်)ကို အမှန်ပင် ပြန်လည်ရုပ်သိမ်းတော်မူပေမည်၊*[၁] ထို့နောက် ယင်းကုရ်အာန်ကျမ်းတော်မြတ်နှင့်စပ်လျဉ်း၍ ငါအရှင်မြတ်နှင့် ဆန့်ကျင်သော အားကိုးအားထား တစ်ဦးတစ်ယောက်ကိုမျှပင် အသင် တွေ့ရှိလိမ့်မည် မဟုတ်ပေ။

إِلَّا رَحْمَةً مِّن رَّبِّكَ ۚ إِنَّ فَضْلَهُۥ كَانَ عَلَيْكَ كَبِيرًا ﴿٨٧﴾

၈၇။ သို့ရာတွင် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ ကရုဏာတော်အားဖြင့်သာ (ထိုသို့ ရုပ်သိမ်းခြင်းကို ပြုတော်မမူခဲ့ချေ)။ ဧကန်စင်စစ် ထိုအရှင်မြတ်၏ကျေးဇူးတော်ကား အသင်၏အပေါ်၌ ကြီးမားလှပေသတည်း။

---

**(၁) ကုရ်အာန်သည် အမြဲထာဝစဉ်တည်မည်။**

ဆိုလိုသည်ကား ကုရ်အာန်သည် တမန်တော်မြတ် ပြုစုစီရင်ဖန်တီးထားသော ကျမ်းဂန်မဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်တော်သာဖြစ်သည်။ တမန်တော်မြတ်အား ချီးမြှင့်ထားတော်မူသည်။ တမန်တော်မြတ်အား ချီးမြှင့်ထားတော်မူသော ယင်းကုရ်အာန်ကျမ်းမြတ်ကို ထိုအရှင်မြတ် အလိုရှိတော်မူပါက အချိန်မရွေးပြန်လည် ရုပ်သိမ်းတော်မူနိုင်ပေသည်။

သို့ပြန်လည် ရုပ်သိမ်းတော်မူပါက မည်သူတစ်ဦးတစ်ယောက်မျှ ထိုသည့်ကုရ်အာန်ကို ပြန်လည်ဆောင်ကြဉ်းပေးနိုင်သည်မရှိပေ၊ သို့ရာတွင် တမန်တော်မြတ်အပေါ်၌ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်သည် အတိုင်းမသိ ကြီးမားလှသည့်အတွက်၊ အတိုင်းမသိ ကြီးမားလှသည့် ကုရ်အာန်ကျမ်းမြတ်တည်းဟူသော ကျေးဇူးတော်ကို တမန်တော်မြတ်အား ချီးမြှင့်ထားတော်မူခြင်းဖြစ်သည်။

အဆိုပါ ကုရ်အာန်ကို ပြန်လည်ရုပ်သိမ်းရန်အကြောင်း အလျင်းမရှိပြီ။ ကုရ်အာန်သည် အမြဲထာဝစဉ်တည်မည်။ ယခုကဲ့သို့ ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ချမှတ်တော်မူခြင်းမှာ မိမိ၏ အနန္တ တန်ခိုးတော်ကို ထင်ရှားပြတော်မူရန်နှင့် အလ္လာဟ်အရှင်မြတ်မှ တစ်ပါး အခြားအဘယ်မျှ ကြီးမားသော ပုဂ္ဂိုလ်ကြီးပင်ဖြစ်စေကာမူ ၎င်းနှင့်တကွ ၎င်း၌ရှိရှိသမျှသော စွမ်းရည်သတ္တိများသည် ထိုပုဂ္ဂိုလ်၏ ကိုယ်ပိုင်ပစ္စည်း အလျင်းမဟုတ်ကြောင်း၊ အလ္လာဟ်အရှင်မြတ် ခေတ္တအပ်နှင်းထားတော်မူသော အရာသာဖြစ်ကြောင်း ထင်ရှားပြတော်မူရန်ပင် ဖြစ်သည်။

၈၈။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) ပြောကြားပါလေ။ (အချင်းတို့) စင်စစ်အကယ်၍ လူသားအပေါင်းတို့သည်လည်းကောင်း၊ ဂျင်န်အပေါင်းတို့သည်လည်းကောင်း၊ ဤကုရ်အာန်ကျမ်းတော်မြတ်နှင့်တူသော ကျမ်းကို (စီကုံးရေးသား၍) ယူလာရန် စုရုံးကြပြီးလျှင် တစ်ဦးကိုတစ်ဦး ကူညီရိုင်းပင်းခဲ့ကြားလည်း၊ ၎င်းတို့သည် ယင်းကုရ်အာန်ကျမ်းတော်မြတ်နှင့် တူသောကျမ်းကို (စီကုံးရေးသား) ယူဆောင်လာနိုင်ကြမည် အလျှင်း မဟုတ်ပေ။ [၁]

قُلْ لَّئِنِ اجْتَمَعَتِ الْاِنْسُ وَالْجِنُّ عَلٰٓى اَنْ يَّاْتُوْا بِمِثْلِ هٰذَا الْقُرْاٰنِ لَا يَاْتُوْنَ بِمِثْلِهٖ وَلَوْ كَانَ بَعْضُهُمْ لِبَعْضٍ ظَهِيْرًا ﴿٨٨﴾

၈၉။ ၎င်းပြင် ဧကန်မလွဲ ငါအရှင်မြတ်သည် လူတို့ (သိနားလည်ကြစေအံ့သော)ငှာ ဤကုရ်အာန်ကျမ်းတော်မြတ်တွင် ဥပမာပုံဆောင်ချက်အလုံးစုံကို နည်းအမျိုးမျိုးဖြင့် မိန့်ကြားထားတော်မူသည်။ သို့တစေလည်း (မက္ကာသားတို့အနက်) အများဆုံးသော သူတို့သည် ငြင်းပယ်မှုမှတစ်ပါး အခြားမည်သည်ကိုမျှ နှစ်သက်ခဲ့ကြသည် မဟုတ်ပေ။ [၂]

وَلَقَدْ صَرَّفْنَا لِلنَّاسِ فِيْ هٰذَا الْقُرْاٰنِ مِنْ كُلِّ مَثَلٍ فَاَبٰٓى اَكْثَرُ النَّاسِ اِلَّا كُفُوْرًا ﴿٨٩﴾

၉၀။ ထိုမှတစ်ပါး၊၎င်းတို့က (အို-မုဟမ္မဒ်) အသင်သည် ကျွန်ုပ်တို့အဖို့ ပထဝီမြေမှ စမ်းရေချောင်းတစ်ခုကို သွင်သွင်စီးထွက်လာအောင် မပြုလုပ်သမျှကာလပတ်လုံး ကျွန်ုပ်တို့သည် အသင်၏စကားကို အလျှင်း ယုံကြည်လက်ခံကြမည် မဟုတ်ပါဟု ပြောဆိုခဲ့ကြကုန်၏။

وَقَالُوْا لَنْ نُّؤْمِنَ لَكَ حَتّٰى تَفْجُرَ لَنَا مِنَ الْاَرْضِ يَنْۢبُوْعًا ﴿٩٠﴾

---

(၁) **မှတ်ချက်။** ဤကား ကုရ်အာန်ကျမ်းမြတ်၏ တန်ခိုး ပြာဋိဟာတည်း။ ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန် (၂း၂၃-၂၄) နှင့် သက်ဆိုင်ရာအဖွင့်များကို ပြန်လည် ရှုပါကုန်။

(၂) အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်တွင် လူသားတို့အား သိနားလည်စေတော်မူရန်နှင့် အလို့ငှာ၊ အနက် အဓိပ္ပါယ် ပြည့်ဝသော စံနမူနာဖြစ်သော ကောင်းမွန်မြင့်မြတ်သော ထိရောက် ဆွဲဆောင်နိုင်သော အကြောင်းများ အမိန့်ပညတ်တော်များ၊ ဒေသနာတော်များ အမျိုးမျိုး အဖုံဖုံ အပြန်ပြန်အလှန်လှန် ဟောကြားထားတော်မူသည်၊ သို့ပါသော်လည်း ကျေးဇူးမကန်းရလျှင် မနေနိုင်သော ကျေးဇူးကန်းတို့သည် ကျေးဇူးကန်းကြပေသည်။ ဤသို့သော ကျေးဇူးကန်းတို့များကား ဤကမ္ဘာတွင် အမြောက်အမြား ရှိကြပေသည်။

أَوْ تَكُونَ لَكَ جَنَّةٌ مِّن نَّخِيلٍ وَعِنَبٍ فَتُفَجِّرَ الْأَنْهَارَ خِلَالَهَا تَفْجِيرًا ﴿٩١﴾

၉၁။ သို့တည်းမဟုတ် အသင်၌ စွန်ပလွံပင်များနှင့် စပျစ်ပင်များ (ပြည့်စုံစွာ ရှိကုန်သော) ခြံတစ်ခု ရှိရမည်။ ပြီးနောက် အသင်သည် ထိုခြံ၏ အလယ်ဗဟို၌ စမ်းရေချောင်းများ သွင်သွင် စီးထွက်လာအောင် ပြုလုပ်ရမည်။

أَوْ تُسْقِطَ السَّمَاءَ كَمَا زَعَمْتَ عَلَيْنَا كِسَفًا أَوْ تَأْتِيَ بِاللَّهِ وَالْمَلَائِكَةِ قَبِيلًا ﴿٩٢﴾

၉၂။ သို့တည်းမဟုတ် အသင်သည် မိမိထင်မြင်ယူဆခဲ့သည့်အတိုင်း ကျွန်ုပ်တို့အပေါ်၌ မိုးကိုအပိုင်းပိုင်း အစစဖြစ်၍ ပြိုကျလာအောင်ပြုလုပ်ရမည်။ သို့တည်း မဟုတ် အသင်သည် အလ္လာဟ်အရှင်မြတ်အားလည်း ကောင်း၊ ကောင်းကင်တမန်များအားလည်းကောင်း၊ ကျွန်ုပ်တို့၏ရှေ့မှောက်သို့ (သက်သေများအဖြစ်) ခေါ်ယူ၍လာရမည်။

أَوْ يَكُونَ لَكَ بَيْتٌ مِّن زُخْرُفٍ أَوْ تَرْقَىٰ فِي السَّمَاءِ وَلَن نُّؤْمِنَ لِرُقِيِّكَ حَتَّىٰ تُنَزِّلَ عَلَيْنَا كِتَابًا نَّقْرَؤُهُ قُلْ سُبْحَانَ رَبِّي هَلْ كُنتُ إِلَّا بَشَرًا رَّسُولًا ﴿٩٣﴾

၉၃။ သို့တည်းမဟုတ် အသင်၌ ရွှေဖြင့်ပြီးသော ဗိမာန်တစ်ခုရှိရမည်။ သို့တည်းမဟုတ် အသင်သည် မိုးကောင်းကင်သို့ တက်သွားရမည်။ သို့တစေလည်း ကျွန်ုပ်တို့မူကား အသင်သည် (ထိုမိုးကောင်းကင်မှ) ကျွန်ုပ်တို့ ရွတ်ဖတ်နိုင်သော ကျမ်းတစ်စောင်ကို ကျွန်ုပ်တို့အဖို့ ယူချလာခြင်း မပြုသမျှကာလပတ်လုံး (မိုးကောင်းကင်သို့) အသင် တက်သွားခြင်းကို အလျှင်း ယုံကြည်လက်ခံကြမည်မဟုတ်ပေ။ (အို–နဗီတမန်တော်) အသင်သည် ၎င်းတို့အား (ဤသို့)ပြောဆိုဖြေကြား ပါလေ။ (အချင်းတို့) ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် စင်ကြယ် သန့်ရှင်းတော်မူပါ၏၊ ငါသည် လူသားရစူလ်တမန်တော် တစ်ပါးမှအပ အခြားမဟုတ်ပြီ။ [၁]

---

(၁) **ကာဖိရ်တို့၏ မရိုးသားသော တောင်းဆိုချက်များ။**

မက္ကာမြို့သား ကာဖိရ်များသည် ကုရ်အာန် ကျမ်းမြတ်တည်းဟူသော 'မုအ်ဂျိဇဟ်' တန်ခိုး ➢➢

وَمَا مَنَعَ النَّاسَ أَنْ يُؤْمِنُوا إِذْ جَاءَهُمُ الْهُدَىٰ إِلَّا أَنْ قَالُوا أَبَعَثَ اللَّهُ بَشَرًا رَسُولًا ﴿٩٤﴾

၉၄။ စင်စစ် လူတို့ထံ (ဖြောင့်မတ်မှန်ကန်သော) တရားဓမ္မရောက်ရှိလာသောအခါ ၎င်းတို့က အလ္လာဟ် အရှင်မြတ်သည် ရစူလ်တမန်တော်အဖြစ် လူသား တစ်ဦးကို စေလွှတ်တော်မူပါသလောဟု ပြောဆိုခဲ့ ကြသည်မှအပ အခြားတစ်စုံတစ်ရာမျှ ၎င်းတို့အား အီမာန် သက်ဝင်ယုံကြည်ခြင်းမှ ပိတ်ပင်တားဆီးခဲ့ သည်မဟုတ်ပေ။

قُلْ لَوْ كَانَ فِي الْأَرْضِ مَلَائِكَةٌ يَمْشُونَ مُطْمَئِنِّينَ لَنَزَّلْنَا عَلَيْهِمْ مِنَ السَّمَاءِ مَلَكًا رَسُولًا ﴿٩٥﴾

၉၅။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့) ပြောဆို ဖြေကြားပါလေ။ (အချင်းတို့) အကယ် ၍ ပထဝီမြေ၌ ကောင်းကင်တမန်များသည် အတည် တကျ နေထိုင်သွားလာနေကြပါလျှင် ဧကန်မလွဲ ငါ အရှင်မြတ်သည် ၎င်းတို့အပေါ်၌ မိုးကောင်းကင်မှ ကောင်းကင်တမန်တော်တစ်ပါးကိုပင် ရစူလ်တမန်တော် အဖြစ် ချပေး(စေလွှတ်)တော် မူခဲ့အံ့သတည်း။ [1]

---

➤➤ ပြာဋိဟာကို မည်သို့မျှ မငြင်းနိုင် မယှဉ်နိုင်ကြသောအခါ၊ စေတနာရိုးဖြင့် မဟုတ်ဘဲ၊ မလိုမုန်းတီးသော စိတ်ဖြင့် ဤအာယတ်တော်တွင် ပါရှိသည့်အတိုင်း အဓိပ္ပါယ် ကင်းမဲ့သော တောင်းဆိုချက်များကို တောင်းဆိုကြ လေတော့သည်။

တမန်တော်များသည် တမန်တော်များသာ ဖြစ်ခဲ့ကြပေသည်။ တန်ခိုးတော်အနန္တရှင်များ မဟုတ်ကြပေ။ ၎င်းတို့၏ အဓိကတာဝန်မှာ အလ္လာဟ်အရှင်မြတ်ထံတော်မှ ကျရောက်လာသော ဒေသနာတော်များကို သက်ဆိုင်ရာ လူသားတို့ထံသို့ ဖြန့်ချီပေးခြင်းနှင့် လက်တွေ့ကျင့်သုံးပြခြင်းသာ ဖြစ်သည်။တန်ခိုးပြာဋိဟာပြခြင်းသည် ၎င်းတို့နှင့် မဆိုင်၊ ၎င်းတို့၏ တာဝန်လည်းမဟုတ်၊ တန်ခိုးပြာဋိဟာသည် အလ္လာဟ်အရှင်မြတ်နှင့်သာ သက်ဆိုင်ပေသည်။ ထိုအရှင်မြတ်သည် မိမိဂုဏ်တော်နှင့် အညီအလိုတော်ရှိက ပြတော်မူသည်။ အလိုတော်မရှိက ပြတော်မမူပေ။

ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၁၇း ၅၉-၆၀) နှင့် သက်ဆိုင်ရာ အဖွင့်များကို ပြန်လည်ရှုပါကုန်။

(၁) ကာဖိရ်များသည် မိမိတို့ထံ တရားဓမ္မရောက်ရှိလာပြီးသည့်နောက်တွင်လည်း တရားမရခဲ့ကြပေ။ “လူသားသည် တမန်တော်မဖြစ်နိုင်၊ အလ္လာဟ်အရှင်မြတ်သည် တမန်တော်တစ်ပါးစေလွှတ်တော်မူပါက၊ ကောင်းကင်တမန် တစ်ပါးကိုသာ စေလွှတ်တော်မူပေမည်” ဟု ပြောဆိုကာ လူသားတမန်တော်အား သွေဖည်နေခဲ့ကြပေသည်။ ဤသည် ကာဖိရ်တို့၏ အမြင်မှားမှုပင်။

အကယ်၍ ကမ္ဘာမြေတွင် လူသားတို့အစား ကောင်းကင်တမန်များအတည်တကျ နေထိုင်ကြလျှင်၊➤➤

قُلْ كَفَىٰ بِاللَّهِ شَهِيدًا بَيْنِي وَبَيْنَكُمْ ۚ إِنَّهُ كَانَ بِعِبَادِهِ خَبِيرًا بَصِيرًا ﴿٩٦﴾

၉၆။ (အို–နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့) ပြောကြားပါလေ။ (အချင်းတို့) အလ္လာဟ် အရှင်မြတ်သည်ပင် ငါနှင့်အသင်တို့၏ စပ်ကြားဝယ် သက်သေအဖြစ် လုံလောက်တော်မူ၏။ အကြောင်းမူကား ထိုအရှင်မြတ်သည် မိမိကျွန်အပေါင်းတို့နှင့် ပတ်သက်၍ အကြွင်းမဲ့သိတော်မူသော၊ အကြွင်းမဲ့ မြင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူသောကြောင့် တည်း။ [၁]

---

➤➤ အလ္လာဟ်အရှင်မြတ်သည် ထိုကောင်းကင်တမန်များထံသို့ ကောင်းကင်တမန်ကိုပင် တမန်တော်အဖြစ် စေလွှတ်တော်မူမည်။

အကယ်၍ လူသားတို့ထံသို့ ကောင်းကင်တမန်တစ်ပါးကို ကောင်းကင်တမန်၏ မူလဘူတ၊ မူလဗီဇ၊ မူလရုပ်ဆင်းသဏ္ဍာန်ဖြင့် စေလွှတ်တော်မူပါက၊ လူသားတို့သည် အကျိုးခံစားနိုင်ရန် ဝေးစွ မိမိတို့၏ လက်ရှိ မျက်စိဖြင့် ယင်းကောင်းကင်တမန်တော်များအား ကြည့်ရှုနိုင်ကြမည်လည်း မဟုတ်၊ မိမိတို့၏ လက်ရှိနားများဖြင့် ယင်းကောင်းကင်တမန်၏ အသံကိုကြားနိုင်ကြမည်လည်း မဟုတ်ပေ။ အကယ်၍ အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်တမန်တစ်ပါးကို လူသား၏ အသွင်ဖြင့် စေလွှတ်တော်မူပါက၊ ယင်းကောင်းကင်တမန်နှင့် ပတ်သက်၍ ကောင်းကင်တမန်လော... လူသားလော... ဟူ၍ သို့လောသို့လော ... ဖြစ်ကြဦးပေမည်။

ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန် (၆:၈–၉) ကို ပြန်လည်ဆင်ခြင်ပါကုန်။

(၁) **<u>နောက်ဆုံးသတိပေးခြင်း။</u>**

တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် တမန်တော်အစစ်အမှန်ဖြစ်ကြောင်းနှင့် စပ်လျဉ်း၍ အထောက်အထားများ အခိုင်အလုံ အထင်အရှား ရှိပါလျက်၊ ဒွိဟသံသယမှုများကိုလည်း ဖြေရှင်းထားပါလျက် ကာဖိရ်များသည် မလိုမုန်းတီးမှုကြောင့် မနာခံခဲ့ကြပေ။

ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား ယင်းသို့သော ကာဖိရ်များကို "ကျွန်ုပ်နှင့် အသင်တို့ စပ်ကြားတွင် ဖြစ်ပေါ်နေသည့်ကွဲလွဲမှုနှင့် စပ်လျဉ်း၍ သက်သေအဖြစ် အလ္လာဟ်အရှင်မြတ်သည် လုံးဝလုံလောက်တော်မူသည်၊ (ဝါ) ကျွန်ုပ် တမန်တော် အစစ်အမှန်ဖြစ်ကြောင်း အလ္လာဟ်အရှင်မြတ် သိတော်မူသည်။ အသင်တို့ မယုံကြည်လျှင်နေကြ၊ တစ်နေ့သိကြမည်။

အလ္လာဟ်အရှင်မြတ်သည် အလုံးစုံကို သိမြင်တော်မူသောအရှင် ဖြစ်တော်မူသည်။ မိမိ၏ ကျွန်များ၏ အကြောင်းကို အကြွင်းမဲ့သိတော်မူသည်။ အသင်တို့၏ မလိုမုန်းတီးမှု၊ မယုံကြည်မှု၊ သွေဖည်မှုများကိုလည်း အကြွင်းမဲ့သိတော်မူသည်။ သို့သိတော်မူသည့်အတိုင်း အသင်တို့အား အပြစ်ဒဏ်ခတ်တော်မူမည်ဖြစ်သည်" ဟု ပြောကြားသတိပေးစေတော်မူသည်။ ထာနဝီ။

وَمَنْ يَّهْدِ اللّٰهُ فَهُوَ الْمُهْتَدِ ۚ وَمَنْ يُّضْلِلْ فَلَنْ تَجِدَ لَهُمْ اَوْلِيَآءَ مِنْ دُوْنِهٖ ۗ وَنَحْشُرُهُمْ يَوْمَ الْقِيٰمَةِ عَلٰى وُجُوْهِهِمْ عُمْيًا وَّبُكْمًا وَّصُمًّا ۗ مَاْوٰىهُمْ جَهَنَّمُ ۗ كُلَّمَا خَبَتْ زِدْنٰهُمْ سَعِيْرًا ﴿٩٧﴾

၉၇။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်က တရားလမ်းမှန်သို့ ညွှန်တော်မူသော သူသည်သာလျှင် တရားလမ်းမှန်ကို ရရှိသူဖြစ်၍ ထိုအရှင်မြတ်က လမ်းမှား၌ ထားရှိတော်မူသောသူကား အသင်သည် ထိုအရှင်မြတ်မှတစ်ပါး ၎င်းတို့အား ကူညီရိုင်းပင်းမည့် သူများကို အလျှင်း တွေ့ရှိလိမ့်မည်မဟုတ်ပေ။ [၁]

ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့အား ကိယာမတ်ရှင်ပြန်ထမည့်နေ့တွင် မျက်နှာမှောက်လျက်၊ မျက်စိကန်းသူများ၊ ဆွံ့အ သူများနှင့် နားပင်သူများ အဖြစ် (လာရောက်) စုရုံးစေတော်မူမည်။ ၎င်းတို့၏ နေရာထိုင်ခင်းသည် ဂျဟန္နမ် ငရဲဘုံသည်ပင်လျှင် ဖြစ်ပေမည်။ ယင်း(ဂျဟန္နမ်ငရဲဘုံ၏မီး)သည် ငြိမ်းအေး တိုင်း ငြိမ်းအေးတိုင်း၊ ငါအရှင်မြတ်သည် ၎င်းတို့၌ မီးတောက်မီးလျှံကို ပိုမို များပြားစေတော်မူမည် ဖြစ်ပေသတည်း။

ذٰلِكَ جَزَآؤُهُمْ بِاَنَّهُمْ كَفَرُوْا بِاٰيٰتِنَا وَقَالُوْٓا ءَاِذَا كُنَّا عِظَامًا وَّرُفَاتًا ءَاِنَّا لَمَبْعُوْثُوْنَ خَلْقًا جَدِيْدًا ﴿٩٨﴾

၉၈။ ဤကား ၎င်းတို့၏အကျိုးတည်း။ အကြောင်းသော်ကား၊ ထိုသူတို့သည် ငါအရှင်မြတ်၏ သက်သေ လက္ခဏာတော်များကို မယုံမကြည် ငြင်းဆိုခဲ့ကြခြင်း ကြောင့်လည်းကောင်း၊ "ကျွန်ုပ်တို့သည် အရိုးများသာ ကျန်ရှိပြီး၊ အပိုင်းပိုင်းအစစ ဖြစ်ကြသောအခါ အသစ် (ပြန်လည်) ဖန်ဆင်းခြင်းအားဖြင့် ရှင်ပြန်ထစေခြင်းကို ခံကြရဦးမည်လော" ဟု ပြောဆိုခဲ့ကြခြင်းကြောင့် လည်းကောင်း၊ ဖြစ်သတည်း။

---

(၁) အလ္လာဟ်အရှင်မြတ်၏ "တောင်ဖီက်" လျော်ကန်သင့်မြတ်အောင် အကြောင်းဖန်တီးမှု၊ သမာသမတ် ဖြစ်စေမှုဖြင့် သာလျှင် လူတစ်ဦးသည် လမ်းမှန်ပေါ်၌ လျှောက်၍ လိုရာပန်းတိုင်သို့ ရောက်ရှိနိုင်ပေသည်။ အကြင်သူတစ်ဦးသည် မိမိ၏ မောက်မာပလွှားမှု၊ ဆိုးသွမ်းမိုက်မဲမှု၊ သွေဖည်မှုများကြောင့် အလ္လာဟ်အရှင်မြတ်၏ ကူညီဖေးမမှုကို မရရှိသော်၊ ထိုသို့သောသူအား လမ်းမှန်ပေါ်သို့ အသူပို့ဆောင်နိုင်အံ့နည်း။

أَوَلَمْ يَرَوْا أَنَّ اللّٰهَ الَّذِي خَلَقَ السَّمٰوٰتِ وَالْأَرْضَ قَادِرٌ عَلٰى أَنْ يَّخْلُقَ مِثْلَهُمْ وَجَعَلَ لَهُمْ أَجَلًا لَّا رَيْبَ فِيْهِ ۚ فَأَبَى الظّٰلِمُوْنَ إِلَّا كُفُوْرًا ﴿٩٩﴾

၉၉။ ကောင်းကင်ကိုလည်းကောင်း၊ ကမ္ဘာမြေကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသော အရှင်မြတ်သည် ၎င်းတို့ကဲ့သို့သောသူတို့အား (အသစ်ပြန်လည်) ဖန်ဆင်းတော်မူရန် စွမ်းဆောင်နိုင်တော်မူသောအရှင် ဖြစ်တော်မူသည်ကို ၎င်းတို့သည် မသိမမြင်ကြလေသလော၊ စင်စစ် ထိုအရှင်မြတ်သည် (သေဆုံးရန်နှင့် ရှင်ပြန်ထရန်) ယုံမှားသံသယ လုံး၀ကင်းရှင်းသော ကာလအပိုင်း အခြားတစ်ခုကို သတ်မှတ်ပြဋ္ဌာန်းတော်မူခဲ့လေသည်။ သို့တစေလည်း မတရားကျူးလွန်သူတို့မူကား မယုံမကြည် ငြင်းဆိုခြင်းမှတစ်ပါး အခြားကို မနှစ်သက်ခဲ့ကြပေ။

قُلْ لَّوْ أَنْتُمْ تَمْلِكُوْنَ خَزَآئِنَ رَحْمَةِ رَبِّيْٓ إِذًا لَّأَمْسَكْتُمْ خَشْيَةَ الْإِنْفَاقِ ۚ وَكَانَ الْإِنْسَانُ قَتُوْرًا ﴿١٠٠﴾

၁၀၀။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့) ပြောကြားပါလေ။ အကယ်၍သာ အသင်တို့သည် ကျွန်ုပ်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ကရုဏာတော်၏ဘဏ္ဍာတော်များကို ပိုင်ဆိုင်ကြသည်ရှိသော်၊ အမှန်ပင် (ယင်းဘဏ္ဍာတော်များ) သုံးစွဲ၍ ကုန်ဆုံးသွားမည်ကိုစိုး၍ အသင်တို့စေးနှဲကြပေမည်။ စင်စစ် လူသားတို့သည် အလွန်စေးနှဲတွန့်တိုသူများပင် ဖြစ်ကြကုန်သတည်း။ [၁]

---

(၁) ကုရ်အာန်ကျမ်းမြတ် (၁၇း၈၇-၈၈)တွင် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် တမန်တော်မြတ်အား အလွန်မြင့်မြတ်သော ကျေးဇူးတော်ကို ပြုတော်မူခဲ့သည့်အကြောင်း ကုရ်အာန်ကျမ်းမြတ်ကဲ့သို့သော အံ့ချီးမဆုံးသော ဆုလာဘ်ကြီးကို ချီးမြှင့်တော်မူခဲ့သည့်အကြောင်းပါရှိခဲ့သည်။ ထို့နောက် ကာဖိရ်များ၏ သွေဖည်ငြင်းဆန်မှု၊ မလိုမုန်းတီးမှုများအကြောင်းကို ဆက်လက်၍ မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်တွင် အဆိုပါ ကျေးဇူးတော်အကြောင်းကိုပင် ပြန်လည် မိန့်ဆိုထားတော်မူသည်။

ယခုကဲ့သို့ မိမိ၏ ကျွန်တစ်ဦးအား တမန်တော်အပေါင်းတို့၏အချုပ် ခန့်အပ်တော်မူပြီး၊ အံ့ချီးမဆုံးသည့် ကုရ်အာန်ကျမ်းမြတ်ကို ချီးမြှင့်တော်မူခြင်းမှာ အနန္တော အနန္တကရုဏာတည်းဟူသော ဘဏ္ဍာတော်များကို စိုးပိုင်၍ အသချေ်အသချာ ရက်ရောစွာ လှူဒါန်းတော်မူသော အလ္လာဟ်အရှင်မြတ်၏ အလုပ်သာဖြစ်လေသည်။ ထိုအရှင်မြတ်၌ ယင်းသို့ လှူဒါန်းတော်မူသည့်အတွက် ဘဏ္ဍာတော်လျော့နည်း သွားမည်ကိုလည်း မစိုးရိမ်ရ၊ ယင်းသို့ လှူဒါန်းလိုက်သည့်အတွက် အခြားသူများသည် မိမိနှင့် ဂုဏ်ရည်တူဖြစ်လာမည်။ မိမိထက် ➤➤

وَلَقَدْ اٰتَيْنَا مُوْسٰى تِسْعَ اٰيٰتٍۢ بَيِّنٰتٍ فَسْـَٔلْ بَنِيْٓ اِسْرَاۤءِيْلَ اِذْ جَاۤءَهُمْ فَقَالَ لَهٗ فِرْعَوْنُ اِنِّيْ لَاَظُنُّكَ يٰمُوْسٰى مَسْحُوْرًا ﴿١٠١﴾

**၁၀၁။** ၎င်းပြင် (နဗီတမန်တော်) မူစာသည် အိစ်ရာအီလီမျိုးနွယ်တို့ထံ ရောက်ရှိလာသောအခါ မချွတ်မလွဲ ငါအရှင်မြတ်သည် ယင်းမူစာအား *တန်ခိုးပြာဋိဟာ ကိုးပါးကို* [၁] ချီးမြှင့်ပေးသနားတော်မူခဲ့လေသည်။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် (ဤအကြောင်းကို) အိစ်ရာအီလီ မျိုးနွယ်တို့အား မေးမြန်းစုံစမ်း၍ ကြည့်ပါလေ။ ထို(ကဲ့သို့ မူစာ ရောက်လာသော)အခါ ယင်းမူစာအား ဖစ်ရ်အောင်န်က အို-မူစာ၊ ဧကန်စင်စစ် ကျွန်ုပ်သည် အသင့်အား စုန်းပြုစားခြင်းခံရသူဖြစ်သည်ဟု ထင်မှတ်ကြောင်း ပြောဆိုခဲ့လေသည်။

➤➤ သာလွန်၍သွားမည်၊ မိမိအား လွှမ်းမိုးသွားမည်ဟူ၍လည်း အလျှင်းမစိုးရိမ်ရ။ အလ္လာဟ်အရှင်မြတ်သည် လူသားတို့ကဲ့သို့ မစေးနဲ မတွန့်တိုပေ။

လူသားတို့သည် အကယ်တည့် ကရုဏာတော်တည်းဟူသော ဘဏ္ဍာတော်တိုက်များကို စိုးပိုင်ခဲ့ကြသည်ရှိသော်၊ ယင်းလူသားတို့သည် ယင်းသည့် ဘဏ္ဍာတော်များကို ရက်ရောစွာပေးကမ်း လှူဒါန်းကြမည်မဟုတ်ပေ၊ အဘယ်ကြောင့်ဆိုသော် လှူဒါန်းလိုက်ပါက ဘဏ္ဍာတော်များသည် လျော့နည်းသွားမည်။ မိမိကိုယ်တိုင် လက်မဲ့ဖြစ်သွားမည်။ အခြားသူများသည် မိမိထက်သာသွားမည်။ မိမိအား လွှမ်းမိုးသွားမည်ဟူသော စိုးရိမ်ချက်များသည် လူသားတို့၏ စိတ်တွင်း၌ ကိန်းအောင်းလျက် ရှိခြင်းကြောင့်ပင် ဖြစ်သည်။ ဤသည့် စိုးရိမ်ချက်တို့ကား အလ္လာဟ်အရှင်မြတ်၌ အလျှင်းမရှိပေ။

အကယ်၍ ကရုဏာတည်းဟူသော ဘဏ္ဍာတော်များကို မက္ကာမြို့သား ကာဖိရ်များ ပိုင်ဆိုင်ခဲ့ကြပါက ပထမသော် ၎င်းတို့သည် မည်သူ့ကိုမျှ ခွဲဝေပေးလှူကြမည် မဟုတ်ပေ။ ပေးလှူပြန်ကလည်း မက္ကာနှင့် တွာအစ်ဖ်မြို့များမှ ဥစ္စာနေ ကုံလုံကြွယ်ဝသော မောက်မာပလွှားသော အကြီးအကဲများကိုသာ ပေးလှူကြပေမည်။ ဗနီဟာရှင်မ်မျိုးနွယ်ဝင် မိတဆိုး၊ ဖတဆိုးတစ်ဦးဖြစ်သော (တမန်တော်မြတ်)မုဟမ္မဒ်ကိုကား အလျှင်းပင် ပေးလှူကြမည် မဟုတ်ပေ။ ယခုမူ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် ထိုက်တန်သူအား ထိုက်သည့်အားလျော်စွာ ချီးမြှင့်ရမည်ဟူသော သဘောဖြင့် တမန်တော်မြတ်အား ရွေးချယ်ချီးမြှင့်တော်မူခဲ့လေသည်။ တမန်တော်မြတ်သည်လည်း သို့ချီးမြှင့်တော်မူခြင်းခံရသည့်အားလျော်စွာ ထိုသည့် ကျေးဇူးတော်ကို မိမိ၏ နောက်လိုက်များမှ တစ်ဆင့် ကမ္ဘာ့အဝန်းသို့ ပေးဝေ ဖြန့်ချီတော်မူခဲ့ပေပြီ။ ကာဖိရ်များကဲ့သို့ကား မတွန့်တိုခဲ့ပေ။

(၁) အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ကျေးဇူးတော်ဖြင့် တမန်တော်မြတ်အား အံ့မဆုံးသော ကုရ်အာန်ကျမ်းမြတ်ကို ချီးမြှင့်တော်မူခဲ့၏။ မြောက်မြားစွာသော ကျေးဇူးတော်များကို ချီးမြှင့်တော်မူခဲ့၏။ ထို့အတူ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာအားလည်း အခြေအနေအရ ထင်ရှားသော တန်ခိုးပြာဋိဟာ(၉)ပါးကို ချီးမြှင့်တော်မူခဲ့ဘူးသည်။

တမန်တော်မူစာသည် အိစ်ရာအီလီမျိုးနွယ်ဝင်တို့အား ဖစ်ရ်အောင်န်၏ နှိပ်စက်ညှဉ်းပန်းမှုများမှ ➤➤

قَالَ لَقَدْ عَلِمْتَ مَآ أَنْزَلَ هٰٓؤُلَآءِ إِلَّا رَبُّ السَّمٰوٰتِ وَالْأَرْضِ بَصَآئِرَ وَإِنِّي لَأَظُنُّكَ يٰفِرْعَوْنُ مَثْبُورًا ﴿١٠٢﴾

၁၀၂။ ထိုမူစာက (ဤသို့)ပြောဆိုဖြေကြားခဲ့လေသည်။ ဤသည်တို့ကို မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသော အရှင်မြတ်သည်သာလျှင် ပိုင်းခြားသိမြင်နိုင်စေသော သက်သေ သာဓကများအဖြစ် ချပေးတော်မူခဲ့ကြောင်း။ အမှန်စင်စစ် *အသင်သည် သိရှိခဲ့ပြီး ဖြစ်ပေသည်။* [၁] ၎င်းပြင်၊ အို-ဖစ်ရ်အောင်န်၊ ဧကန်စင်စစ် ကျွန်ုပ်သည် အသင့်အား ဆုံးရှုံးဖျက်ဆီးခြင်းခံရမည် ဖြစ်သည်ဟု ထင်မှတ်ပေသတည်း။

فَأَرَادَ أَنْ يَّسْتَفِزَّهُمْ مِّنَ الْأَرْضِ فَأَغْرَقْنٰهُ وَمَنْ مَّعَهُ جَمِيعًا ﴿١٠٣﴾

၁၀၃။ ထိုအခါ ယင်းဖစ်ရ်အောင်န်သည် ထိုအိစ်ရာအီလီမျိုးနွယ်တို့အား ထို(အီဂျစ်)နိုင်ငံမှ ချွတ်ချော်တိမ်းပါးစေရန် ကြံရွယ်ခဲ့လေသည်။ သို့ရာတွင် ငါအရှင်မြတ်သည် ယင်းဖစ်ရ်အောင်န်အားလည်းကောင်း၊ ယင်းဖစ်ရ်အောင်န်နှင့်အတူ ရှိကြသူအားလုံးတို့ကိုလည်းကောင်း၊ ပင်လယ်နီတွင် နှစ်မြှုပ်တော်မူခဲ့လေသည်။

---

➤➤ ကယ်တင်ရန် ကြွလာခဲ့သည့်အခါ ယင်းသည့် တန်ခိုးပြာဋ္ဌိဟာများကို ပြသခဲ့လေသည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ အိစ်ရာအီလီမျိုးနွယ်ဝင်များအနက် ဖြစ်ရပ်မှန်သိသော၊ သမာသမတ်ရှိသော ပညာရှင်သုခမိန်များအား မေးမြန်းကြည့်နိုင်ပေသည်။

(၉) ပါးသော တန်ခိုးပြာဋ္ဌိဟာများမှာ အောက်ပါအတိုင်း ဖြစ်သည်။

| | |
|---|---|
| ၁။ မိုးခေါင်ခြင်း။ | ကုရ်အာန် (၇း ၁၃၀) |
| ၂။ ကောက်ပဲသီးနှံယုတ်လျော့ခြင်း။ | ကုရ်အာန် (၇း ၁၃၀) |
| ၃။ မိုးသက်မုန်တိုင်းကျခြင်း။ | ကုရ်အာန် (၇း ၁၃၃) |
| ၄။ ကျိုင်းကောင်။ | ကုရ်အာန် (၇း ၁၃၃) |
| ၅။ ပိုးမွှား။ | ကုရ်အာန် (၇း ၁၃၃) |
| ၆။ ဖား။ | ကုရ်အာန် (၇း ၁၃၃) |
| ၇။ သွေး။ | ကုရ်အာန် (၇း ၁၃၃) |
| ၈။ တောင်ဝှေး။ | ကုရ်အာန် (၇း ၁၀၇) |
| ၉။ လက်။ | ကုရ်အာန် (၇း ၁၀၈) |

ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၇း ၁၃၃) ၏ အဖွင့်တွင် အကျယ်ဖွင့်ဆိုရေးသားခဲ့ပေပြီ။

(၁) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် တမန်တော်မူစာပြသခဲ့သော တန်ခိုးပြာဋ္ဌိဟာ➤➤

وَّقُلْنَا مِنْ بَعْدِهٖ لِبَنِيْٓ اِسْرَآءِيْلَ اسْكُنُوا الْاَرْضَ فَاِذَا جَآءَ وَعْدُ الْاٰخِرَةِ جِئْنَا بِكُمْ لَفِيْفًا ﴿١٠٤﴾

**၁၀၄။** ၎င်းပြင် ငါအရှင်မြတ်သည် ယင်း(ကဲ့သို့ နှစ်မြုပ်တော်မူပြီး)နောက်တွင် အိစ်ရာအီလီမျိုးနွယ် တို့အား အသင်တို့သည် ဤကမ္ဘာမြေဝယ် (မိမိ ကြိုက်နှစ်သက်ရာနေရာ၌)နေထိုင်မှီတင်းကြလေကုန်၊ တစ်ဖန် နောက်ဆုံးနေ့နှင့်စပ်လျဉ်း၍ ချိန်းချက်ထား သော အချိန်ကာလရောက်ရှိလာသောအခါ၊ ငါအရှင်မြတ် သည် အသင်တို့ (အားလုံး)ကိုစုပေါင်းကာ ယူဆောင်လာ တော်မူအံ့ ဟု မိန့်ကြားတော်မူခဲ့လေသည်။

وَبِالْحَقِّ اَنْزَلْنٰهُ وَبِالْحَقِّ نَزَلَ ۗ وَمَآ اَرْسَلْنٰكَ اِلَّا مُبَشِّرًا وَّنَذِيْرًا ﴿١٠٥﴾

**၁၀၅။** စင်စစ် ငါအရှင်မြတ်သည် ယင်းကုရ်အာန်ကျမ်း တော်မြတ်ကို မှန်ကန်မှုနှင့်တကွ ချပေးတော်မူခဲ့ရာ၊ *ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် မှန်ကန်မှုနှင့်တကွ ပင် ကျရောက်လာခဲ့၏။* [၁] ၎င်းပြင် ငါအရှင်မြတ်သည် အသင်အား သတင်းကောင်းပြောကြားသူ အဖြစ်သာ လည်းကောင်း၊ သတိပေးနှိုးဆော်သူ အဖြစ်သာ လည်းကောင်း၊ စေလွှတ်တော်မူခဲ့လေသည်။ [၂]

---

➤➤ များကို ဖစ်ရ်အောင်နိသည် နှုတ်မှငြင်းပယ်သော်လည်း စိတ်တွင်းကမူ ယင်းသည့် တန်ခိုးပြာဋ္ဌိဟာများသည် မိုးမြေများကို စိုးပိုင်တော်မူသော အလ္လာဟ်အရှင်မြတ်၏ တန်ခိုးပြာဋ္ဌိဟာများသာ ဖြစ်သည်ကို ကောင်းစွာ ရိပ်စားမိလေသည်။ အကြင်သူတစ်ဦးသည် အမှန်တရားကို သိပါလျက်နှင့် မလိုမုန်းတီးမှု မောက်မာပလွှား ဝါကြွားမှုများကြောင့် သွေဖည်ငြင်းပယ်သော်၊ ထိုသို့သောသူနှင့် ပတ်သက်၍ ၎င်းသည် ပျက်စီးချိန်တန်ချေပြီဟူ၍သာ ဆိုဖွယ်ရာရှိတော့ပေသည်။

(၁) အထက်တွင် ကုရ်အာန်ကျမ်းမြတ်၏ အကြောင်းပါရှိခဲ့၏။ တမန်တော်မူစာ၏ တန်ခိုးပြာဋ္ဌိဟာများအကြောင်း ပါရှိခဲ့၏။ ယခု ဤအာယတ်တော်တွင် ကုရ်အာန်ကျမ်းမြတ်၏ အကြောင်းကို ပြန်လည်မိန့်ဆိုထားတော်မူ၏။ ကုရ်အာန်ကျမ်းတော်မြတ်သည် တမန်တော်မြတ်အား ချီးမြှင့်တော်မူသော တန်ခိုးပြာဋ္ဌိဟာများတွင် အကြီးဆုံးနှင့် အထင်ရှားဆုံး တန်ခိုးပြာဋ္ဌိဟာဖြစ်၏။ ယင်းကုရ်အာန်ကျမ်းမြတ်ကို အလ္လာဟ်အရှင်မြတ်သည် မိမိ၏ အလုံးစုံကို သိမြင်တော်မူသော ဉာဏ်တော်ဖြင့် တိကျမှန်ကန်စွာ ထုတ်ပြန်ပို့ချတော်မူခဲ့၏။ သို့ပို့ချပေးခဲ့တော်မူခဲ့သည့်အလျောက် ကုရ်အာန်ကျမ်းမြတ်သည် တိကျမှန်ကန်စွာ ကျရောက်လာခဲ့ပေပြီ။ ယနေ့ထက်တိုင် မူရင်းပကတိအတိုင်း တည်လျက်ရှိ၏။ နောင်တွင်လည်း အမြဲထာဝစဉ်တည်ရှိမည်ပင်ဖြစ်၏။

(၂) ဆိုလိုသည်ကား တမန်တော်မြတ်သည် နာခံသူများအားကောင်းချီးသတင်းပေးတော်မူသည်။ မနာခံသူတို့အား သတိပေးတော်မူသည်။ တရားရခြင်း တရားမရခြင်းသည် လူသားတို့နှင့် သက်ဆိုင်ပေသည်။ တမန်တော်မြတ်နှင့် မသက်ဆိုင်ပေ။

وَقُرْاٰنًا فَرَقْنٰهُ لِتَقْرَاَهٗ عَلَى النَّاسِ عَلٰى مُكْثٍ وَّنَزَّلْنٰهُ تَنْزِيْلًا ﴿١٠٦﴾

၁၀၆။ ထို့ပြင် ငါအရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်ကို ခြားနား၍ ချပေးသနားတော်မူခဲ့၏။ အသင်သည် လူတို့ရှေ့ဝယ် ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို ဆိုင်းကာ ဆိုင်းကာ (တစ်နည်း) ဆိုင်းငံ့ထားသော ကြားကာလ၌ ဖတ်ကြားနိုင်အံ့သောငှာ (ယင်းကဲ့သို့ ခြားနား၍ ချပေးတော်မူခြင်း) ဖြစ်ပေသည်။ ၎င်းပြင် ငါအရှင်မြတ်သည် ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို အသင်တို့ထံ တဖြည်းဖြည်းအားဖြင့် ချပေးသနားတော် မူခဲ့ပေသတည်း။

قُلْ اٰمِنُوْا بِهٖٓ اَوْ لَا تُؤْمِنُوْا ؕ اِنَّ الَّذِيْنَ اُوْتُوا الْعِلْمَ مِنْ قَبْلِهٖٓ اِذَا يُتْلٰى عَلَيْهِمْ يَخِرُّوْنَ لِلْاَذْقَانِ سُجَّدًا ۙ﴿١٠٧﴾

၁၀၇။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့) အသင်တို့သည် ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို ယုံကြည်ကြသည် ဖြစ်စေ၊ မယုံကြည်ကြသည်ဖြစ်စေ၊ (အကြောင်းမထူးပေ) အသင်တို့ ယုံကြည်ကြသဖြင့် ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် ပိုမို၍ ပြည့်စုံသွားမည်လည်းမဟုတ်၊ အသင်တို့ မယုံကြည်သဖြင့် ချို့တဲ့နေမည်လည်း မဟုတ်ပေ။ ဧကန်စင်စစ် ယင်းကုရ်အာန်မကျရောက်မီ အလျင်က အသိပညာကို ချီးမြှင့်ပေးသနားတော်မူခြင်း ခံကြရသောသူတို့မှုကား ၎င်းတို့ရှေ့ဝယ် ယင်း(ကုရ်အာန် ကျမ်းတော်မြတ်)ကို ဖတ်ကြားလေသောအခါ ၎င်းတို့ သည် မျက်နှာအောက်ချလျက် ပျပ်ဝပ်ဦးချကြကုန်သည်။

وَّيَقُوْلُوْنَ سُبْحٰنَ رَبِّنَآ اِنْ كَانَ وَعْدُ رَبِّنَا لَمَفْعُوْلًا ﴿١٠٨﴾

၁၀၈။ ၎င်းပြင် ထိုသူတို့က ကျွန်ုပ်တို့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်သည် စင်ကြယ်သန့်ရှင်း တော်မူပါသည်။ အမှန်စင်စစ် ကျွန်ုပ်တို့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်၏ ကတိသည် အမှန်မလွဲ ဖြစ်ရမည့် ကတိစ္စပင်ဖြစ်သည်ဟု (ဝန်ခံ)လျှောက်ထား ကြကုန်၏။

وَيَخِرُّونَ لِلْأَذْقَانِ يَبْكُونَ وَيَزِيدُهُمْ خُشُوعًا ۩ ﴿١٠٩﴾

၁၀၉။ ၎င်းပြင် ထိုသူတို့သည် ငိုကြွေးလျက် မျက်နှာအောက်ချကြကုန်၏။ ၎င်းပြင် ယင်းကုရ်အာန်ကျမ်းတော်သည် ထိုသူတို့၌ ချစ်ကြောက်ရိုသေမှုကို ပိုမိုတိုးပွားစေပေသတည်း။

قُلِ ادْعُوا اللَّهَ أَوِ ادْعُوا الرَّحْمَٰنَ ۖ أَيًّا مَّا تَدْعُوا فَلَهُ الْأَسْمَاءُ الْحُسْنَىٰ ۚ وَلَا تَجْهَرْ بِصَلَاتِكَ وَلَا تُخَافِتْ بِهَا وَابْتَغِ بَيْنَ ذَٰلِكَ سَبِيلًا ﴿١١٠﴾

၁၁၀။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားလေ။ အသင်တို့သည် အလ္လာဟ်ဟူ၍ တသကြလေကုန်။ သို့တည်းမဟုတ် ရဟ်မာန်ဟူ၍ *တသကြလေကုန်။*[၁] အသင်တို့သည် မည်သို့ပင် တသကြသည်ဖြစ်စေ၊ (ကောင်းမြတ်လှပေသည်)။ (အဘယ်ကြောင့်ဆိုသော်) ထိုအရှင်မြတ်၌ အထူးကောင်းမြတ်လှစွာသောနာမံတော်များ ရှိ(နေပေရာ ဤနာမံတော်နှစ်ပါးမှာလည်း ထိုနာမံတော်များအနက် အမြင့်မြတ်ဆုံးသောနာမံတော်များပင် ဖြစ်ကုန်)၏။

၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် မိမိဆွလာတ်ဝတ်ပြုမှုတွင်၊ အသံမြင့်လွန်းကျယ်လွန်းစေခြင်းကိုလည်းကောင်း၊ နိမ့်လွန်းတိုးလွန်းစေခြင်းကိုလည်းကောင်း၊ မပြုပါလေနှင့်၊ စင်စစ် အသင်သည် ဤ(နှစ်ခု၏)အကြားတွင် (အလယ်အလတ်) နည်းလမ်းကို ရှာဖွေပါလေ။[၂]

---

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ်အား၊ ဦးချသည့်အကြောင်း၊ ချစ်ကြောက်ရိုသေ ခန့်ညားသည့် အကြောင်းများ ပါရှိခဲ့၏။ ထိုအကြောင်းများနှင့် ဆက်စပ်၍ ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်ထံ ပန်ကြားသည့်အကြောင်း၊ ထို့နောက်တဖန် ဤအကြောင်းနှင့် ဆက်စပ်၍ ဆွလာတ်ဝတ်ပြုရာတွင် ရွတ်ဖတ် သရဇ္ဈာယ်ပုံများကို မိန့်ဆိုထားတော်မူသည်။

အလ္လာဟ်အရှင်မြတ်၏ နာမံတော်များအနက် အရဗ်၊ မုရှ်ရစ်ကင်များထံ၌ "အလ္လာဟ်" ဟူသော နာမံတော်သည် အသုံးအများဆုံး ဖြစ်ခဲ့ချေသည်။ "ရဟ်မာန်" ဟူသည့် နာမံတော်သည် အသုံးမများခဲ့ပေ။ ယဟူဒီများထံ၌မူ "ရဟ်မာန်" ဟူသည့် နာမံတော်သည် အသုံးများခဲ့ချေသည်။ ထို့ပြင်တဝ ထိုအချိန်မှာပင် မုသာဝါဒီ မုစိုင်လမဟ် ကဿာဗ်သည် မိမိကိုယ်ကို "ရဟ်မာနုလ်ယမာမဟ်" ဟူ၍ ဘွဲ့နာမပေးထားခဲ့ပေသည်။ ထို့အတွက် အရဗ်မုရှ်ရစ်ကင်တို့သည် အလ္လာဟ်အရှင်မြတ်အား "ရဟ်မာန်" ဟူ၍ခေါ်ဝေါ်ခြင်းကို အလွန် ➤➤

وَقُلِ الْحَمْدُ لِلّٰهِ الَّذِيْ لَمْ يَتَّخِذْ وَلَدًا وَّلَمْ يَكُنْ لَّهٗ شَرِيْكٌ فِى الْمُلْكِ وَلَمْ يَكُنْ لَّهٗ وَلِيٌّ مِّنَ الذُّلِّ وَكَبِّرْهُ تَكْبِيْرًا ﴿١١١﴾

**၁၁၁။** ထိုမှတစ်ပါး (အို-နဗီတမန်တော်) အသင်သည် (ဤသို့)ပြောဆို (ထောပနာ ပြု)ပါလေ။ ချီးမွမ်း ထောပနာအပေါင်းတို့သည် အကြင် အလ္လာဟ်အရှင်မြတ် နှင့်သာထိုက်၏။ ထိုအရှင်မြတ်သည် သားသမီး တစ်ဦး တစ်ယောက်မျှလည်း ပြုလုပ်တော်မမူခဲ့ချေ။ ထိုအရှင် မြတ်၌ စိုးမိုးအုပ်ချုပ်မှုတွင် ဖက်စပ်သူ ဟူ၍လည်း တစ်ဦးတစ်ယောက်မျှမရှိပေ။ ထို့ပြင် ဂုဏ်သရေ သိမ်ငယ် မှုကြောင့် ထိုအရှင်မြတ်အား ရိုင်းပင်းကူညီ ကာကွယ် စောင့်ရှောက်သော အဆွေခင်ပွန်းဟူ၍လည်း တစ်ဦး တစ်ယောက်မျှပင် မရှိချေ။ ၎င်းပြင် အသင်သည် ထိုအရှင်မြတ်၏ ကြီးကဲမြင့်မြတ်တော်မူကြောင်းကိုလည်း ချီးကျူးကြေညာပါလေ။ [၁]

---

➤➤ စက်ဆုပ် ရွံရှာမုန်းတီးခဲ့ကြပေသည်။ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်အား "ရဟ်မာန်" ဟူ၍ ခေါ်ဝေါ် တသတော်မူသောအခါ၊ အရဗ်မုရှ်ရစ်က်များက "မုဟမ္မဒ်သည် ငါတို့အား ကိုးကွယ်ရာနှစ်ပါးကို မကိုးကွယ်ရန် ပိတ်ပင်သည်။ မိမိတို့ ကိုယ်တိုင်ကမူ အလ္လာဟ်အရှင်မြတ်နှင့် အခြားကိုးကွယ်ရာ (ရဟ်မာန်)ကိုပါ ဒွန်တွဲ ကိုးကွယ်လျက်ရှိသည်" ဟု ကဲ့ရဲ့ ပြစ်တင်ပြောဆိုခဲ့ကြသည်။

အခြားတစ်ဖက်တွင် ယဟူဒီများက "ငါတို့သည် "ရဟ်မာန်" ဟူသော နာမံတော်ကို အဖန်ဖန် သုံးနေကြသည်။ တမန်တော်မြတ် မုဟမ္မဒ်သည် "ရဟ်မာန်" ဟူသော နာမံတော်ကို အဘယ်ကြောင့်များစွာ မသုံးသနည်း" ဟူ၍ ကဲ့ရဲ့ ပြစ်တင်ခဲ့ကြသည်။ ဤအာယတ်တော်တွင် အဆိုပါ မုရှ်ရစ်က်များနှင့် ယဟူဒီများအား ဖြေကြားထားတော်မူသည်။

ဆိုလိုသည်ကား၊ "အလ္လာဟ်" နှင့် "ရဟ်မာန်" သည် ဉာဏ်တော်အနန္တ၊ တန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူသော တစ်ဆူတည်းဖြစ်တော်မူသော အရှင်သခင်၏ နာမံတော်နှစ်ပါးမျှသာ ဖြစ်သည်။ နာမံတော် များသည့်အတွက် နာမံတော်ရှင်ကားများသည် မဟုတ်ပေ။ "တောင်ဟီးဒ်" နှင့်လည်း ဆန့်ကျင်သည် မဟုတ်ပေ။ အလ္လာဟ်အရှင်မြတ်၌ ဂုဏ်တော်များကား အမြောက်အမြားရှိသည်။ အလ္လာဟ်အရှင်မြတ်အား မည်သည့် ဂုဏ်တော်ဖြင့်ဖြစ်စေ တသနိုင်ပေသည်။ ကြည့် ကုရ်အာန် (၅၉း ၂၂-၂၄)။ သို့တစေလည်း ကာလ်ဒေသံကို ထောက်ထား၍ အသုံးပြုပါက ပိုမိုထိရောက်ပေသည်။

(၂) ဆိုလိုသည်ကား အသံထုတ်၍ဆောက်တည်ရသော ဆွလာတ်များတွင်းလည်းကောင်း၊ ထို့အတူ ဆုပန်ကြားမှု စသည်တို့တွင်လည်းကောင်း၊ အသံကျယ်လွန်းစွာဖြင့် ရွတ်ဖတ်ရန်လည်းမလိုပေ။ အသံ အလွန် တိုးတိုးစွာဖြင့် ရွတ်ဖတ်ရန်လည်းမလိုပေ။ အလယ်အလတ်သာလျှင် ရွတ်ဖတ်သင့်ပေသည်။

(၁) ဤအာယတ်တော်သည် ဤကဏ္ဍ၏ နောက်ဆုံး အာယတ်တော်ပင် ဖြစ်သည်။ ဤအာယတ်တော်တွင် "တောင်ဟီးဒ်" အကြောင်းကို မိန့်ဆိုထားတော်မူသည်။ အလ္လာဟ်အရှင်မြတ်သည်သာလျှင် ➤➤

---

➤➤ ချီးမွမ်းထောပနာခြင်းအပေါင်းကို ခံထိုက်တော်မူသည်။ ထိုအရှင်မြတ်သည် တန်ခိုးတော် အပေါင်းနှင့် ပြည့်စုံတော်မူသည်။ ချို့တဲ့မှုပေါင်းနှင့်လုံးဝ ကင်းစင်တော်မူသည်။ ထိုအရှင်မြတ်သည် မည်သူ့ကိုမျှ တောင့်တ ကြောင့်ကြတော်မူရသည်လည်း အလျှင်းမရှိ။ မည်သူတစ်ဦးတစ်ယောက်ထံမှ အကူအညီ တောင်းတော်မူရသည် လည်း အလျှင်းမရှိ။

များသောအားဖြင့် သူတစ်ပါးထံမှ အကူအညီတောင်းရခြင်းမှာ သုံးမျိုးသုံးစားရှိပေသည်။

(၁) မိမိထက် ငယ်သူထံမှ အကူအညီတောင်းခြင်း။

ဥပမာ - ဖခင်သည် တစ်ခါတစ်ရံ သားသမီးများထံမှ အကူအညီတောင်းသည်။

(၂) မိမိနှင့်တန်းတူထံမှ အကူအညီတောင်းခြင်း။

ဥပမာ - ဖက်စပ်လုပ်သူတစ်ဦးသည် တစ်ခါတစ်ရံ အခြားဖက်စပ်လုပ်သူတစ်ဦးထံမှ အကူအညီ တောင်းသည်။

(၃) မိမိထက်ကြီးသူထံမှ အကူအညီတောင်းခြင်း။

ဥပမာ - သာမန်လူငယ်တစ်ဦးသည် ဒုက္ခရောက်သည့်အခါ အကြီးအကဲများထံမှ အကူအညီ တောင်းသည်။

ဤအာယတ်တော်တွင် အထက်ပါ အကူအညီတောင်းပုံ သုံးမျိုးစလုံးသည် အလ္လာဟ်အရှင်မြတ်၌ လုံးဝ မရှိကြောင်း မိန့်ဆိုထားတော်မူသည်။ ရှင်းလင်းပြဦးအံ့၊ အလ္လာဟ်အရှင်မြတ်၌ သားသမီးမရှိဟု မိန့်ဆိုထားတော်မူရာ၊ အကြီးက အငယ်ထံမှ အကူအညီတောင်းခြင်းမျိုးလည်း အလ္လာဟ်အရှင်မြတ်၌ မရှိကြောင်း ထင်ရှားသွားပေသည်။ အလ္လာဟ်အရှင်မြတ်၌ ဂုဏ်ရည်တူမရှိဟု မိန့်ဆိုထားတော်မူရာ၊ ဂုဏ်ရည်တူအချင်းချင်း အကူအညီတောင်းခြင်းမျိုးလည်း အလ္လာဟ်အရှင်မြတ်၌ မရှိကြောင်း ထင်ရှားသွားပေမည်။ ဒုက္ခရောက်ချိန်တွင် ကူညီထောက်ပံ့သော မိတ်ဆွေလည်း အလ္လာဟ်အရှင်မြတ်၌ မရှိဟု မိန့်ဆိုထားတော်မူပေရာ ငယ်သူက ကြီးသူထံမှ အကူအညီတောင်းခြင်းမျိုးလည်း အလ္လာဟ်အရှင်မြတ်၌ မရှိကြောင်း ထင်ရှားသွားပေသည်။

ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ်၌ သားရှိသည်ဟု ယူဆသော နဆွ်ရာနီများ၏ အယူအဆကို လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၌ ဂုဏ်ရည်တူရှိသည်ဟု ယူဆသော မုရှ်ရစ်က်များ၏ အယူအဆကို လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်သည် တမန်တော်ရာကွ်ဗ်နှင့် နပန်းသတ်ရာတွင် ရှုံးနိမ့်တော်မူခဲ့သည်ဟူသော ယဟူဒီတို့၏ အယူအဆကိုလည်းကောင်း ကုရ်အာန်သည် ဤအာယတ်တော်ဖြင့် ပယ်ဖျက်တော်မူလိုက်လေသည်။ ဉာဏ်တော်အနန္တ၊ တန်ခိုးတော်အနန္တနှင့် ပြည့်စုံ၍ ချို့တဲ့မှုအပေါင်းမှ လုံးဝကင်းစင်တော်မူသော တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အားသာလျှင် ဂုဏ်တော်ချီးမွမ်းရာသတည်း။

## ဥမင်လိုဏ်ခေါင်းကဏ္ဍ



ဤကဏ္ဍသည် (စူရဟ်ကဟ်ဖ်) ဥမင်လိုဏ်ခေါင်း အကြောင်း ပါဝင်သော ကဏ္ဍမည်၏။
ဤကဏ္ဍသည် မက္ကာမြို့တော်တွင် ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော်ပေါင်း (၁၁၀)၊ ရကူအ် အပိုဒ် (၁၂) အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော မပြတ်မစဲ
သနားကြင်နာ ညှာတာတော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

اَلْحَمْدُ لِلّٰهِ الَّذِيْٓ اَنْزَلَ عَلٰى عَبْدِهِ الْكِتٰبَ وَلَمْ يَجْعَلْ لَّهٗ عِوَجًا ۜ ①

၁။ ချီးမွမ်းထောပနာအပေါင်းတို့သည် အကြင် အလ္လာဟ်အရှင်မြတ်နှင့်သာ သက်ဆိုင်၏။ ထိုအရှင်မြတ်သည် မိမိကျွန်(မုဟမ္မဒ်)၏အပေါ်ဝယ် ကျမ်းတော်မြတ် (ကုရ်အာန်)ကို ချပေးသနားတော်မူခဲ့၏။ ၎င်းပြင် ထိုအရှင်မြတ်သည် ယင်း(ကုရ်အာန်)ကျမ်းတော်၌ မည်သည့် (ဝေ့ဝိုက်)ကွေ့ကောက်မှုကိုမျှ ထားရှိတော်မမူခဲ့ချေ။[၁]

(၁) ချီးမွမ်းထောပနာခြင်း အပေါင်းတို့ကို အလ္လာဟ်အရှင်မြတ်သာလျှင် ခံထိုက်တော်မူပေသည်။ ထိုအရှင်မြတ်သည် မိမိ၏အရင်းနီးဆုံး၊ အထူးခြားဆုံးသောကျွန် (ဝါ) တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုက်ဟိဝစလ္လမ်) အပေါ်သို့ အပြည့်စုံဆုံး အမြင့်မြတ်ဆုံးသော ကုရ်အာန်ကျမ်းမြတ်ကို ချပေးတော်မူပြီး ကမ္ဘာသူ ကမ္ဘာသားတို့အား အကြီးဆုံးနှင့် အမြင့်မြတ်ဆုံးသော ကျေးဇူးတော် ချီးမြင့်တော်မူခဲ့လေသည်။

ဤကျမ်းဂန်၏ အနက်အဓိပ္ပါယ်များတွင် အကွေ့အကောက် ဆန့်ကျင်မှု၊ ရှေ့နောက်မညီညွတ်မှု စသည့် ချို့တဲ့မှု အလျှင်းမရှိ။ ဤကျမ်းဂန်သည် ဖြောင့်မတ်မှန်ကန်လှပေသည်။ အတိတ်ခေတ်ကျမ်းဂန်များ၏ မူများနှင့် သဘောတရားများကိုလည်း ထောက်ခံသည်။ ထိန်းသိမ်းသည်။ ကမ္ဘာလူသားတို့၏ အကျိုးများကိုလည်း ဆောင်ကျဉ်းပေသည်။ ဤကျမ်းဂန်၏ အသုံးအနှုန်းများမှာလည်း၊ အလွန်ပြေပြစ်လှသည်။ ယဉ်ကျေးသိမ်မွေ့လှသည်။ ဝါစာသိလိဋ္ဌ ဖြစ်လှသည်။ စာပေ ဂုဏ်မြောက်လှပေသည်။ ဒေသနာတော်များမှာလည်း မချို့မပဋိပဒါ ကျလှသည်။ အနက်အဓိပ္ပါယ် ထိမိလှသည်။ ခေတ်တိုင်း လူတိုင်းနှင့် လျော်ကန်သင့်မြတ်လှသည်။ ဤသို့သော ကျမ်းဂန်ကို ထုတ်ပြန်ချမှတ်တော်မူခြင်းမှာ ကာဖိရ်များအား သတိပေးရန်နှင့် မုအ်မင်န် သူတော်စင်တို့အား ကောင်းချီးသတင်းပေးရန်ပင် ဖြစ်သည်။

قَيِّمًا لِّيُنذِرَ بَأْسًا شَدِيدًا
مِّن لَّدُنْهُ وَيُبَشِّرَ الْمُؤْمِنِينَ
الَّذِينَ يَعْمَلُونَ الصَّالِحَاتِ
أَنَّ لَهُمْ أَجْرًا حَسَنًا ﴿٢﴾

၂။ အမှန်မှာ ထိုကျမ်းဂန်ကို ဖြောင့်မတ်စွာ ပြုစု ထားတော်မူခဲ့ပေသည်။ ထိုအရှင်မြတ်အထံတော်မှ (ကျရောက်အံ့သော) ပြင်းထန်လှသော ပြစ်ဒဏ်မှ သတိပေးအံ့သောငှာလည်းကောင်း၊ ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူဆောက်တည်ကြကုန်သော မုအ်မင်န်သက်ဝင်ယုံကြည်သူတို့အား ယင်းတို့အဖို့ အလွန်မွန်မြတ်လှစွာသော အကျိုးဆုလာဘ်ရှိသည်ဟု သတင်းကောင်း ပေးအံ့သောငှာလည်းကောင်း။

مَّاكِثِينَ فِيهِ أَبَدًا ﴿٣﴾

၃။ (၎င်းတို့သည်) ယင်း(ဂျန္နတ် သုခဘုံတည်း ဟူသော) အကျိုးဆုလာဘ်၌ အမြဲထာဝစဉ် နေထိုင်လျက် ရှိကြပေမည်။

وَيُنذِرَ الَّذِينَ قَالُوا اتَّخَذَ
اللَّهُ وَلَدًا ﴿٤﴾

၄။ အလ္လာဟ်အရှင်မြတ်သည် သားတော်တစ်ပါး မွေးစားတော်မူခဲ့သည်ဟု ပြောဆိုကြကုန်သော သူတို့အား သတိပေးနှိုးဆော်အံ့သောငှာလည်းကောင်း။

مَّا لَهُم بِهِ مِنْ عِلْمٍ
وَلَا لِآبَائِهِمْ ۚ كَبُرَتْ كَلِمَةً
تَخْرُجُ مِنْ أَفْوَاهِهِمْ ۚ إِن
يَقُولُونَ إِلَّا كَذِبًا ﴿٥﴾

၅။ (စင်စစ်) ထိုသူတို့လည်း ဤ(စွပ်စွဲချက်)နှင့် စပ်လျဉ်း၍ မည်သည့်သက်သေသာဓက တစ်စုံတစ်ရာ မျှပင် မရှိပေ။ ထိုနည်းတူစွာ ၎င်းတို့၏ အဘ၊ ဘိုး၊ ဘေးတို့၌လည်း (မည်သည့် အသိပညာ သက်သေ သာဓက တစ်စုံတစ်ရာမျှပင် မရှိချေ။ ၎င်းတို့၏ နှုတ်မှထွက်သော စကားသည် အလွန်ကြီးကျယ်လှပေ သည်။ ၎င်းတို့သည် မဟုတ်မမှန် မုသား(စကား)ကိုသာ ပြောဆိုကြကုန်သတည်း။

فَلَعَلَّكَ بَاخِعٌ نَّفْسَكَ عَلَىٰ
آثَارِهِمْ إِن لَّمْ يُؤْمِنُوا بِهَٰذَا
الْحَدِيثِ أَسَفًا ﴿٦﴾

၆။ သို့ဖြစ်ရာ (အို-နဗီတမန်တော်) အကယ်၍ ၎င်းတို့သည် ဤကျမ်းတော်ကို မယုံကြည်ခဲ့ကြပါလျှင် အသင်သည် ၎င်းတို့ (သွေဖည်ငြင်းပယ်ခဲ့ကြပြီး) နောက်တွင် မိမိကိုယ်ကို မိမိပင် ဝမ်းနည်းပူဆွေးသော အားဖြင့် ပျက်စီးစေမည့်ဟန်တူပေသည်။

(သေလုမတတ် ပူပန်သောကများနေဟန်တူသည်)။ ၁

إِنَّا جَعَلْنَا مَا عَلَى الْأَرْضِ زِينَةً لَّهَا لِنَبْلُوَهُمْ أَيُّهُمْ أَحْسَنُ عَمَلًا ⑦

၇။ ဧကန်မလွဲ ငါအရှင်မြတ်သည် လူတို့အား ၎င်းတို့အနက် မည်သူသည် အကျင့်အမူအားဖြင့် အကောင်းဆုံးဖြစ်သည်ကို စမ်းသပ်တော်မူအံ့သောငှါ၊ ပထဝီမြေပေါ်၌ရှိကုန်သော အရာဝတ္ထုများကို ငါအရှင်မြတ်သည် ယင်းပထဝီမြေ၏ အလှများ ပြုလုပ်တော်မူခဲ့လေ၏။ ၂

وَإِنَّا لَجَاعِلُونَ مَا عَلَيْهَا صَعِيدًا جُرُزًا ⑧

၈။ တစ်ဖန် ဧကန်မလွဲ ငါအရှင်မြတ်သည် ယင်းပထဝီမြေပေါ်၌ ရှိရှိသမျှတို့ကို အမှန်ပင် သွေ့ခြောက်သောမြေပြင်အတိ ပြုလုပ်တော်မူမည့်အရှင်မြတ်လည်း ဖြစ်တော်မူပေသတည်း။ ၃

---

(၁) တမန်တော်မြတ်သည် ကမ္ဘာသူ ကမ္ဘာသားတို့အား ကရုဏာတရား ပွားများတော်မူရန်အလို့ငှါ ပွင့်လာတော်မူခဲ့၏။ သို့ပွင့်လာတော်မူခဲ့သည့် အလျှောက်လည်း တာဝန်သိသိ၊ သစ္စာရှိရှိနှင့် ကမ္ဘာသူ ကမ္ဘာသားတို့အား တရားဓမ္မဟောညွှန်ပြတော်မူခဲ့၏။ တရားဓမ္မဟောညွှန်ပြတော်မူရာတွင်လည်း ကိုယ်၏ ဆင်းရဲခြင်း၊ စိတ်၏ ဆင်းရဲခြင်း အမျိုးမျိုးကို ခံစားတော်မူခဲ့၏။ တာဝန်ရှိသည်ထက်ပို၍ ကြိုးပမ်းတော်မူခဲ့၏။ သို့ပါလျက် ကာဖိရ်များ တရားမရကြသည့်အခါ တမန်တော်မြတ်သည် ယူကျုံးမရဖြစ်ရှာတော်မူခဲ့၏။ သေလုမတတ်ပင် ပူပန်သောက များတော်မူခဲ့ရှာ၏။ ဤအာယတ်တော်တွင် ဤသည့်အကြောင်းကိုပင် မိန့်ဆိုထားတော်မူ၏။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် တမန်တော်မြတ်သည် ကမ္ဘာသူကမ္ဘာသားတို့အား အဘယ်မျှ ကရုဏာတရား ပွားများတော်မူခဲ့ကြောင်း၊ ကမ္ဘာ့အကျိုးကို အဘယ်မျှ သယ်ပိုးတော်မူလိုကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။

(၂) အလ္လာဟ်အရှင်မြတ်သည် ဤကမ္ဘာ့မြေမျက်နှာပြင်ကို ကမ္ဘာ့တန်ဆာအမျိုးမျိုးတို့ဖြင့် လှပတင့်တယ်စွာ ဆင်ယင်ထားတော်မူသည်မှာ ရှုမငြီးပင် ဖြစ်ပေသည်။ ဤသို့ ကမ္ဘာကြီးကို ရှုမငြီးဆင်ယင်ထားတော်မူခြင်းမှာ လူသားတို့အနက် မည်သူမည်ဝါသည် လောကီစည်းစိမ်များတွင် နစ်မွန်းနေသည်၊ မည်သူမည်ဝါသည် အရိပ်ပမာ သင်္ခါရမျှသာ ဖြစ်သော၊ ဤလောကီစည်းစိမ်များကို စွန့်လွှတ်၍ နောင်တမလွန်၏ ထာဝရ သုခချမ်းသာမှုများ ခံစားရန် ကြိုးပမ်းအားထုတ်သည်ကို စမ်းသပ်တော်မူရန်ပင်ဖြစ်သည်။ တစ်နည်းဆိုသော် ဤလူ့ကမ္ဘာသည် လူသားတို့၏ စမ်းသပ်ရာဌာနကြီးပင် ဖြစ်ပေသည်။

အချို့ကျမ်းချက်များတွင် လာရှိသည်မှာ သာဝကကြီး အုမရ်က၊ "တမန်တော်မြတ်၊ အကျင့်အမူ အကောင်းဆုံးသောသူများသည် မည်သူများပါနည်း" ဟု လျှောက်ထားရာ၊ တမန်တော်မြတ်က "အသိဉာဏ် အကောင်းဆုံးဖြစ်ပြီး အလ္လာဟ်အရှင်မြတ်က တားမြစ်ထားတော်မူသောအရာများကို ဝေးစွာရှောင်ကြဉ်၍ ထို အရှင်မြတ်၏အမိန့်တော်များကို ဆောလျင်စွာ လိုက်နာကျင့်မူသောသူများ ဖြစ်ကြသည်" ဟု ဖြေကြားတော်မူလိုက်ပေသည်။

أَمْ حَسِبْتَ أَنَّ أَصْحٰبَ الْكَهْفِ وَالرَّقِيْمِ كَانُوْا مِنْ اٰيٰتِنَا عَجَبًا ۝٩

၉။ ကေန်စင်စစ် *ဥမင်လိုဏ်ခေါင်းတွင် ခို(အောင်းခဲ့)သူတို့သည်* ၁ ရေးသားထားသော သင်ပုန်းရှင်တို့နှင့် ရကီမ်မြို့သားတို့သည် ငါအရှင်မြတ်၏ သက်သေလက္ခဏာများအနက် ထူးဆန်းအံ့ဖွယ်ဖြစ်သည်ဟု အသင်ထင်မှတ်လေလော့။

---

(၇) လောကီစည်းစိမ်များတွင် နစ်မွန်းသူများ သိထားအပ်ကြသည်မှာ ကမ္ဘာသက်တမ်း ကုန်ဆုံးသည့် တစ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် ဤစကြာဝဠာကြီးကို ပြန်လည်ရုပ်သိမ်းတော်မူမည်ဖြစ်သည်။

ဤလောကီ အဆောင်အယောင်များ၊ အဆင်အယင်များ အားလုံးကို ရုပ်သိမ်းတော်မူပြီး၊ မြေပြင်အတိပြုတော်မူမည်ဖြစ်သည်။ ဤလောကီစည်းစိမ်များသည် သင်္ချိုင်းမှုသာ ဖြစ်သည်။ ထာဝရမဟုတ်ပေ။ လူသားတို့သည် လောကီစည်းစိမ်များကို အဘယ်မျှပင် စုဆောင်ထားနိုင်ကြလင့်ကစား သိပ္ပံပညာများ ထွန်းကား၍ ဤကမ္ဘာကြီးကို ရွှေဘုံရွှေနန်းတမျှ မွမ်းမံခြယ်လှယ် ထားနိုင်ကြလင့်ကစား အလ္လာဟ်အရှင်မြတ်၏ တရားဒေသနာတော်များနှင့် ကင်းကွာနေကြသမျှ ကာလပတ်လုံးစစ်မှန်သော ထာဝရသုခကိုမူ အလျှင်းရရှိနိုင်ကြမည်မဟုတ်ပေ။

အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှုကိုရရှိရန်အလို့ငှာ လောကီစည်းစိမ်များကို စွန့်လွှတ်၍ တရားမှန်ကို ဆောက်တည်ရာတွင် တွေ့ကြုံရသမျှသော ဒုက္ခကြီးငယ် အန္တရာယ်အသွယ်သွယ်တို့ကို မကြောက်မရွံ့နောက်မတွန့်ဘဲ အပြုံးနှင့် ရင်ဆိုင်ရဲသော သာသနာ့အာဇာနည်များ၊ သူမွန်သူမြတ်များသာလျှင် ထာဝရသုခကို ခံစားကြရမည်ဖြစ်သည်။ ဤသည့်အကြောင်းနှင့်ဆက်စပ်၍ ရှေ့တွင်"အတ်ဆွ်ဟာဗီကဟ်ဖ်"၏ အကြောင်းကို မိန့်ဆိုထားတော်မူသည်။

**(၁) အတ်ဆွ်ဟာဗီကဟ်ဖ် ဥမင်လိုဏ်ခေါင်းတွင်းသို့ သွားရောက်ခိုအောင်းခဲ့ကြသော လုလင်များ။**

ရှေ့တွင်ပါရှိသော "အတ်ဆွ်ဟာဗီ ကဟ်ဖ်" ခေါ် လိုဏ်ဂူတွင်းသို့ သွားရောက်ခိုအောင်ခဲ့ကြသော နဆွ်ရာနီလုလင်များ၏ အကြောင်းသည် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော် အနန္တနှင့်စာကြည့်လျှင် အလွန့်အလွန် အံ့သြဖွယ်ရာ မဟုတ်သေးပေ။

အမှန်မှာ မိုး၊ မြေ၊ နေ၊ လ၊ နက္ခတ်၊ ဂြိုလ်စသည့် ကမ္ဘာ့တန်ဆာများကို ဖန်ဆင်းတော်မူ၍ စံနစ်တကျ သွားလာလှုပ်ရှားစေတော်မူခြင်း၊ သေးငယ်သော လူသားအား ကမ္ဘာအဝှန်းထက် အသားပေးထားတော်မူခြင်း၊ လူသားတို့တွင် တမန်တော်များအား စေလွှတ်တော်မူခြင်း၊ တမန်တော်များ၏ အားအင်ချည့်နဲ့လှသော လက်တစ်ဆုပ်စာမျှရှိသော နောက်လိုက်တပည့်သားတို့အား အားအင် အလွန်ကြီးမားသော၊ မောက်မာပလွှားဝါကြွားလျှက်ရှိသော ကာဖိရ်စစ်သည်များနှင့် ပြိုင်ဆိုင်ရာတွင် အနိုင်ပေးတော်မူခြင်း၊ တမန်တော်မြတ်နှင့် သာဝကကြီး အဗူဗတ်က်ရ်တို့အား "ဆောင်ရ်" လိုဏ်ဂူတွင် သုံးရက်တိုင်တိုင် ခိုအောင်းစေတော်မူပြီး ရန်သူများ၏ မျက်စိအောက်မှပင် လွတ်မြောက်စေတော်မူခဲ့ခြင်း၊ အလွန်တိုတောင်းလှသည့် အချိန်ပိုင်း အတွင်းတွင် လက်တစ်ဆုပ်မျှသော မွတ်စ်လင်မ်တို့အား အာရေဗျကျွန်းဆွယ်ကြီး တစ်ခုလုံးနှင့် ကမ္ဘာ့အရပ်ရပ်သို့ လွှမ်းမိုးသွားစေတော်မူခဲ့ခြင်း၊ စသည်တို့သည် နက်နက်နဲနဲ စဉ်းစားဆင်ခြင်မြော်မြင်ကြည့်ပါက ပို၍ပင် အံ့ဖွယ်ကောင်းပေသည်။

ဆိုလိုသည်ကား၊ နဆွ်ရာနီလုလင်များ၏ အကြောင်းသည် အံ့ဖွယ်ရာဖြစ်သကဲ့သို့ အခြားအံ့ဖွယ်ရာများသည် အမြောက်အမြား ရှိပေသေးသည်ဟူ၏။



إِذْ أَوَى الْفِتْيَةُ إِلَى الْكَهْفِ
فَقَالُوا رَبَّنَا آتِنَا مِن
لَّدُنكَ رَحْمَةً وَهَيِّئْ لَنَا
مِنْ أَمْرِنَا رَشَدًا ⑩

၁၀။ (ပြန်လည် အောက်မေ့သတိရပါလေ)၊ အကြင် အခါဝယ် ထိုလူငယ်တို့သည် ဥမင်လိုဏ်ခေါင်းသို့ (သွားရောက်) ခိုအောင်းခဲ့လေသည်။ ထို့နောက် ၎င်းတို့သည် ကျွန်တော်မျိုးတို့အားဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား မိမိအထံတော်မှ ကရုဏာတော်ကို ချီးမြှင့်ပေးသနားတော်မူပါ။ ထိုမှတစ်ပါး အရှင်မြတ်သည် ကျွန်တော်မျိုးတို့အဖို့ ကျွန်တော်မျိုးတို့၏အရေးကိစ္စ၌ ဖြောင့်မတ်မှုကို ပေးသနားတော်မူပါဟု လျှောက်ထား(အသနား)ခံခဲ့ကြကုန်၏။

---

➤➤ ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် ယဟူဒီများ၏ ညွှန်ကြားချက်အရ တမန်တော်မြတ်အား အချို့ပုစ္ဆာများကို မေးမြန်းခဲ့ကြလေသည်။

ယင်းပုစ္ဆာများအနက် ပုစ္ဆာတစ်ခုမှာ "အတ်ဆွ်ဟာဗီကဟ်ဖ်" ၏ အကြောင်းနှင့် ပတ်သက်သည်။ ကုရ်အာန်ကျမ်းမြတ်တွင် ဤအကြောင်းကို ဖြေဆိုထားတော်မူသည်။

"ကဟ်ဖ်" ၏မူရင်းအဓိပ္ပါယ်မှာ ကျယ်ဝန်းသော ဥမင်လိုဏ်ခေါင်းဟုရသည်။ သို့ဖြစ်ရာ "အတ်ဆွ်ဗီကဟ်ဖ်" ၏ အဓိပ္ပါယ်မှာ "ဥမင်လိုဏ်ခေါင်းရှင်များ" "ဥမင်လိုဏ်ခေါင်းတွင်း ခိုအောင်းသူများ"ဟူ၍ဖြစ်ပေသည်။

"ရကီမ်" ၏ အဓိပ္ပါယ်မှာ ကမ္ပည်းကျောက်စာ၊ သင်္ချိုင်းမှတ်တိုင်ဟုရသည်။ အတ်ဆွ်ဟာဗ်ကဟ်ဖ်၏ သင်္ချိုင်းပေါ်တွင် ကမ္ပည်းကျောက်စာတစ်ခုရေးဆွဲထားသည်။ ထိုကမ္ပည်းကျောက်စာတွင် အဆွ်ဟာဗီကဟ်ဖ် ၏အမည်၊ မျိုးနွယ်ဆက်နှင့် အတ္ထုပ္ပတ္တိ အကျဉ်းချုပ်ကို ရေးသားထားသည်။

ယင်းသို့ ကမ္ပည်းကျောက်စာ ရေးဆွဲထားသည်ကို အကြောင်းပြု၍ အတ်ဆွ်ဟာဗ်ကဟ်ဖ်အား "အတ်ဆွ်ဟာဖ်ရကီမ်" (ကမ္ပည်းကျောက်စာရှင်များ) ဟူ၍လည်း ခေါ်ဝေါ်သမုတ်ခဲ့ကြသည်။

**ဓမ္မအန္တရာယ်ကင်းရာ ဆုဒိုအာ။**

အတ်ဆွ်ဟာဗီကဟ်ဖ်သည် အဆိုပါ ဥမင်လိုဏ်ဂူသို့ သွားရောက်ခိုအောင်းကြသည့်အခါ၊ ဓမ္မအန္တရာယ်ကင်းရန် အလို့ငှာ၊ ဤအာယတ်တော် (၁၈း၁၀) တွင် လာရှိသည့်အတိုင်း 'အို ... ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား မိမိအထံတော်မှ ကရုဏာတော်ကို ချီးမြှင့်ပေးသနားတော်မူပါ။ ၎င်းပြင် အရှင်မြတ်သည် ကျွန်တော်မျိုးတို့အဖို့ ကျွန်တော်မျိုးတို့၏ အရေးကိစ္စတွင် ဖြောင့်မတ်မှန်ကန်မှုကို စီမံပေးသနားတော်မူပါ' ဟု ဆုတောင်းပတ္ထနာပြုခဲ့ကြလေသည်။

ဤသည့် ထုံးကို နှလုံးသွင်း၍ မွတ်စ်လင်မ်တို့သည် ဓမ္မအန္တရာယ်ကြောင့် တိုင်းပြည်စွန့်ခွာရသောအခါ ဤသို့ပင် ဆုဒိုအာပြုရာ၏။

فَضَرَبْنَا عَلَىٰٓ اٰذَانِهِمْ فِى الْكَهْفِ سِنِيْنَ عَدَدًا ⑪

၁၁။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ၎င်းတို့၏ နားပေါ်၌ ဥမင်လိုဏ်ခေါင်းတွင် ရေတွက်ထားသော နှစ်ပေါင်းများစွာအထိ (တံဆိပ်) ရိုက်နှိပ် (ငိုက်မည်းခြင်း၏) အဖုံးအကာကို ချထားတော်မူခဲ့လေသည်။ (ဝါ) အိပ်ပျော်စေတော်မူခဲ့လေသည်။

ثُمَّ بَعَثْنٰهُمْ لِنَعْلَمَ اَيُّ الْحِزْبَيْنِ اَحْصٰى لِمَا لَبِثُوْٓا اَمَدًا ⑫

၁၂။ ထိုနောက် ငါအရှင်မြတ်သည် ၎င်းတို့အား ထိုအုပ်စုနှစ်စုအနက် မည်သည့်အုပ်စုသည် ၎င်းတို့ နေထိုင်ခဲ့ကြသော (အချိန်ကာလ၏) အဆုံးအစွန်ကို ရေတွက်မှတ်သားခဲ့သည်ကို သိအံ့သောငှာ ပြန်နိုးစေတော်မူခဲ့ပေသတည်း။

نَحْنُ نَقُصُّ عَلَيْكَ نَبَاَهُمْ بِالْحَقِّ ۗ اِنَّهُمْ فِتْيَةٌ اٰمَنُوْا بِرَبِّهِمْ وَزِدْنٰهُمْ هُدًى ⑬

၁၃။ (အို-နဗီတမန်တော်) ငါအရှင်မြတ်သည် အသင့်အား ၎င်းတို့၏ အတ္တုပ္ပတ္တိအကြောင်းကို မှန်ကန်စွာ ပြောပြတော်မူလေသည်။ ဧကန်အမှန် ၎င်းတို့သည် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား သက်ဝင် ယုံကြည်ခဲ့ကြကုန်သော လုလင်အချို့ပင် ဖြစ်ခဲ့ကြကုန်၏။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့၌ တရားလမ်းမှန် ရရှိမှုကို တိုးပွားများပြားစေတော်မူခဲ့ပေသည်။

وَّرَبَطْنَا عَلٰى قُلُوْبِهِمْ اِذْ قَامُوْا فَقَالُوْا رَبُّنَا رَبُّ السَّمٰوٰتِ وَالْاَرْضِ

၁၄။ ထိုမှတစ်ပါး ၎င်းတို့သည် (မိမိတို့ဘုရင်၏ ရှေ့ဝယ် သို့မဟုတ် လူများ၏ရှေ့ဝယ်) မားမားမတ်မတ် ရပ်တည်ခဲ့ကြသောအခါ ငါအရှင်မြတ်သည် ၎င်းတို့၏ စိတ်နှလုံးကို ကြံ့ခိုင်စေတော်မူခဲ့လေသည်။ ထိုအခါ ၎င်းတို့သည် (ဤသို့) ပြောကြားခဲ့ကြလေသည်။ "ကျွန်ုပ်တို့၏ အရှင်ကား မိုးကောင်းကင်ကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသောအရှင်ပင် ဖြစ်တော်မူပေသည်။

لَنْ نَّدْعُوَاْ مِنْ دُوْنِهٖٓ اِلٰهًا لَّقَدْ قُلْنَآ اِذًا شَطَطًا ⑭

(သို့ဖြစ်ရာ) ကျွန်ုပ်တို့သည် ထိုအရှင်မြတ်မှ တစ်ပါး မည်သူတစ်ဦးတစ်ယောက်ကိုမျှ ကိုးကွယ်ရာ အဖြစ် အလျှင်း ဟစ်ခေါ်(တသ ကိုးကွယ်ဆည်းကပ်) ကြမည်မဟုတ်ကြောင်း၊ ထိုသို့(ပြုခဲ့ကြသည်)ဖြစ်လျှင် ဧကန်မလွဲ ကျွန်ုပ်တို့သည် အလွန့်အလွန် လွန်ကဲသောအမှုကိစ္စကို၊ အမှန်တရားနှင့် အလွန်ဝေးကွာ ကမ်းလှမ်းသောစကားကို၊ ပြောဆို (ကျူးလွန်)သူများ ပင် ဖြစ်သွားကြမည်ဖြစ်ကြောင်း"။

هٰٓؤُلَآءِ قَوْمُنَا اتَّخَذُوْا مِنْ دُوْنِهٖٓ اٰلِهَةً ۗ لَوْلَا يَاْتُوْنَ عَلَيْهِمْ بِسُلْطٰنٍۢ بَيِّنٍ ۗ فَمَنْ اَظْلَمُ مِمَّنِ افْتَرٰى عَلَى اللّٰهِ كَذِبًا ⑮

၁၅။ (ကျွန်ုပ်တို့၏) ဤအမျိုးသားတို့သည် ထို အရှင်မြတ်မှတစ်ပါး အခြားကိုးကွယ်ရာများ ပြုလုပ်ခဲ့ ကြကုန်၏။ ၎င်းတို့သည် ယင်း(ကိုးကွယ်ရာ)တို့(ကို ခဝပ်ကိုးကွယ်ခြင်း)နှင့် ပတ်သက်၍ ထင်ရှားသော သက်သေသာဓက တစ်စုံတစ်ရာကို အဘယ်ကြောင့် ယူဆောင်(တင်ပြ)ခြင်းကို မပြုကြသနည်း။

သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်အပေါ်၌ မဟုတ်မမှန် မုသားကို လီဆယ်စွပ်စွဲသောသူထက် သာလွန်မတရားသောသူဟူ၍ တစ်ဦးတစ်ယောက်မျှပင် မရှိပေတကား။

وَاِذِ اعْتَزَلْتُمُوْهُمْ وَمَا يَعْبُدُوْنَ اِلَّا اللّٰهَ فَاْوٗٓا اِلَى الْكَهْفِ يَنْشُرْ لَكُمْ

၁၆။ ထို့နောက် (ယင်းလုလင်တို့အနက် အချို့က အချို့အား) အသင်တို့သည် ယင်း(အမျိုးသား)တို့ထံ မှလည်းကောင်း၊ အလ္လာဟ်အရှင်မှတစ်ပါး ထိုသူတို့ ကိုးကွယ်ဆည်းကပ်ကြကုန်သော ကိုးကွယ်ရာများထံ မှလည်းကောင်း၊ ခွဲခွာနောက်ဆုတ်ခဲ့ကြပြီးဖြစ်ပေရာ အသင်တို့သည် (ထို)ဥမင်လိုဏ်ခေါင်းသို့ (သွားရောက်) ခိုလှုံကြလေကုန်။

رَبُّكُمْ مِّنْ رَّحْمَتِهٖ وَيُهَيِّئْ لَكُمْ مِّنْ اَمْرِكُمْ مِّرْفَقًا ﴿١٦﴾

အသင်တို့အား မွေးမြူဖန်ဆင်းတော်မူသော အရှင်မြတ်သည် မိမိကရုဏာတော်ကို အသင်တို့အပေါ် ဝယ် ဖြန့်၍ပေးသနားတော်မူပေမည်။ ၎င်းပြင် ထို အရှင်မြတ်သည် အသင်တို့အဖို့ အသင်တို့၏ အရေး ကိစ္စကို အထူး အကျိုးကျေးဇူးရှိစေရန် စီမံ၍ ပေးတော် မူမည် ဖြစ်သည်။

وَتَرَى الشَّمْسَ اِذَا طَلَعَتْ تَّزٰوَرُ عَنْ كَهْفِهِمْ ذَاتَ الْيَمِيْنِ وَاِذَا غَرَبَتْ تَّقْرِضُهُمْ ذَاتَ الشِّمَالِ وَهُمْ فِىْ فَجْوَةٍ مِّنْهُ ؕ ذٰلِكَ مِنْ اٰيٰتِ اللّٰهِ ؕ مَنْ يَّهْدِ اللّٰهُ فَهُوَ الْمُهْتَدِ ۚ وَمَنْ يُّضْلِلْ فَلَنْ تَجِدَ لَهٗ وَلِيًّا مُّرْشِدًا ﴿١٧﴾

၁၇။ ၎င်းပြင် (အို–နဗီတမန်တော်) အသင်သည် နေထွက်သောအခါ ထိုနေသည် ထို(လုလင်)တို့၏ လိုဏ်ဂူမှလက်ယာဘက်သို့ ညွှတ်၍နေသည်ကို လည်းကောင်း၊ တစ်ဖန် ထိုနေသည် (ပြန်)ဝင်သောအခါ လက်ဝဲဘက်သို့(ကျော်ထွက်ကာ) ထိုသူတို့အား ရှောင်ကွင်း၍သွားသည်ကိုလည်းကောင်း၊ တွေ့မြင်ရမည် ဖြစ်၏။ [၁] စင်စစ် ၎င်းတို့သည် ယင်းလိုဏ်ဂူတွင် ကျယ်ဝန်းသော နေရာ၌ပင်ရှိခဲ့ကြကုန်၏။

ဤသည်ကား အလ္လာဟ်အရှင်မြတ်၏ လက္ခဏာ တော်များအနက် လက္ခဏာတော်တစ်ရပ်ပင်ဖြစ်၏။ အလ္လာဟ်အရှင်မြတ် တရားလမ်းမှန်ကို ညွှန်ပြသော သူသည်သာလျှင် တရားလမ်းမှန်ကို ရရှိသူဖြစ်၏။ သို့ရာတွင် ထိုအရှင်မြတ်က လမ်းမှားစေတော်မူသော သူမှာမူကား ထိုသူအား ကူညီရိုင်းပင်းမည်ဖြစ်သော၊ တရားလမ်းမှန်ညွှန်ပြသော အဆွေခင်ပွန်းဟူ၍ တစ်ဦးတစ်ယောက်မျှပင် အသင် အလျှင်းတွေ့ရှိလိမ့်မည် မဟုတ်ပေတကား။

---

(၁) **အတ်ဆွ်ဟာဗီကဟ်ဖ်၏ ဥမင်လိုဏ်ဂူ၏ အနေအထား။**

ဤအာယတ်တော်တွင် အတ်ဆွ်ဟာဗီကဟ်ဖ် ခိုအောင်းခဲ့ကြသော ဥမင်လိုဏ်ဂူ၏ အနေအထားကို မိန့်ဆိုထားတော်မူသည်။ ထိုလိုဏ်ဂူမှာ မကျဉ်းပေ။ ကျယ်ဝန်းလှပေသည် လေလည်းကောင်းစွာ ဝင်သည်။ အလင်းရောင်လည်းရသည်။ နေရောင်လည်း မထိုးပေ။ ဤသို့အားဖြင့် အဆိုပါ လိုဏ်ဂူမှာ အဆင်ပြေလှသည်။ သာယာလှပေသည်။

**၁၈။** ထို့ပြင် (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား (တွေ့မြင်ရပါလျှင်) နိုးနေကြသူများဟူ၍ပင် ထင်မှတ်ပေမည်။ စင်စစ် ၎င်းတို့သည် အိပ်ပျော်၍ နေကြသူများပင်ဖြစ်ကြကုန်၏။ ၎င်းပြင် ငါအရှင်မြတ်သည်ပင် ထိုသူတို့အား လက်ယာဘက်သို့လည်းကောင်း၊ လက်ဝဲဘက်သို့လည်းကောင်း၊ ပြောင်း၍ပေးတော်မူ၏။ ထိုမှတစ်ပါး ၎င်းတို့၏ခွေးသည် တံခါးဝ၌ မိမိ လက်နှစ်ဖက်ကို ဖြန့်(ခင်း)လျက်ရှိခဲ့၏။

(အို-နဗီတမန်တော်) အကယ်၍သာ အသင်သည် ၎င်းတို့အား ချောင်းကြည့်ခဲ့ပါမူ အမှန်ပင် အသင်သည် ၎င်းတို့ဘက်မှ ကျောခိုင်း၍ထွက်ပြေးသည့်ပြင် ၎င်းတို့အား ထိတ်လန့်မှုသည်လည်း အမှန်ပင် အသင်၌ ပြည့်လျှံ၍ သွားခဲ့မည်သာတည်း။

وَتَحْسَبُهُمْ أَيْقَاظًا وَّهُمْ رُقُودٌ ۖ وَّنُقَلِّبُهُمْ ذَاتَ الْيَمِينِ وَذَاتَ الشِّمَالِ ۖ وَكَلْبُهُم بَاسِطٌ ذِرَاعَيْهِ بِالْوَصِيدِ ۚ لَوِ اطَّلَعْتَ عَلَيْهِمْ لَوَلَّيْتَ مِنْهُمْ فِرَارًا وَّلَمُلِئْتَ مِنْهُمْ رُعْبًا ﴿١٨﴾

**၁၉။** ၎င်းပြင် ဤနည်းနှင်နှင် ငါအရှင်မြတ်သည် ထိုသူတို့အား ၎င်းတို့အချင်းချင်း တစ်ဦးကိုတစ်ဦး မေးမြန်းကြအံ့သောငှာ (ပြန်လည်၍) နိုးထစေတော်မူခဲ့၏။ [၁] (ထိုအခါ) ၎င်းတို့အနက် ပြောဆိုသူတစ်ဦးက အသင်တို့သည် အဘယ်မျှလောက် (အချိန်ကာလတိုင်အောင် အိပ်ပျော်)နေခဲ့ကြသနည်းဟု ပြောဆိုမေးမြန်းခဲ့ရာ ထိုသူတို့(အနက် အချို့)က ကျွန်ုပ်တို့သည် တစ်နေ့ သို့မဟုတ် နေ့၏တစ်စိတ်တစ်ဒေသမျှပင် အိပ်နေခဲ့ကြပါသည်ဟု ဖြေကြားခဲ့လေသည်။

وَكَذَٰلِكَ بَعَثْنَاهُمْ لِيَتَسَاءَلُوا بَيْنَهُمْ ۚ قَالَ قَائِلٌ مِّنْهُمْ كَمْ لَبِثْتُمْ ۖ قَالُوا لَبِثْنَا يَوْمًا أَوْ بَعْضَ يَوْمٍ ۚ

---

**(၁) အတ်ဆွ်ဟာဗီကဟ်ဖ် အိပ်ရာမှ ပြန်လည်နိုးထခြင်း။**

အလ္လာဟ်အရှင်မြတ်သည် မိမိ၏တန်ခိုးတော်ဖြင့် အတ်ဆွ်ဟာဗီကဟ်ဖ်အား အအိပ်ကြီး အိပ်ပျော်စေတော်မူပြီးနောက် ခေတ်အတန်ပြောင်းသွားသည့်အခါ ထိုအရှင်မြတ်သည်ပင် ၎င်းတို့အား ပြန်လည်နိုးထစေတော်မူခဲ့၏။ နိုးထလာကြသောအခါ၊ အချင်းချင်း "ငါတို့အိပ်ပျော်သွားခဲ့ကြသည်မှာ အဘယ်မျှကြာသွားပြီနည်း" ဟု မေးမြန်းကြလေသည်။ အချို့က တစ်နေ့၊ သို့မဟုတ် နေ့ဝက်လောက်ရှိသည်။ ဆိုလိုသည်ကား မကြာလှသေးပါဟု ဆိုလေသည်။ ➢➢

قَالُوا رَبُّكُمْ اَعْلَمُ بِمَا لَبِثْتُمْ فَابْعَثُوٓا اَحَدَكُمْ بِوَرِقِكُمْ هٰذِهٖٓ اِلَى الْمَدِيْنَةِ فَلْيَنْظُرْ اَيُّهَآ اَزْكٰى طَعَامًا فَلْيَاْتِكُمْ بِرِزْقٍ مِّنْهُ وَلْيَتَلَطَّفْ وَلَا يُشْعِرَنَّ بِكُمْ اَحَدًا ⑲

(ထိုအခါ) ၎င်း(တို့အနက် အချို့သူ)တို့ကမူ (ဤသို့)ပြောဆိုခဲ့ကြလေသည်။ (စင်စစ်) အသင်တို့ အိပ်ပျော်နေခဲ့ကြသောအချိန်ကာလကို အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည်သာလျှင် အသိဆုံးပင် ဖြစ်တော်မူ၏။

သို့ဖြစ်ပေရာ အသင်တို့သည် (ယခု) မိမိတို့ အနက် တစ်ဦးဦးကို မိမိတို့၏ ဤငွေဒင်္ဂါးကိုပေး၍ မြို့ထဲသို့ စေလွှတ်ကြလေကုန်။ သို့စေလွှတ်ခဲ့လျှင် မည်သည့် အစားအစာသည် အစင်ကြယ်ဆုံးဖြစ်သည် ကို ကြည့်ရှုပြီးနောက် ထိုသူသည် စားဖွယ်အချို့ကို အသင်တို့ထံ ယူဆောင်လာခဲ့ရမည်။ သို့ရာတွင် ထို သူသည် (မြို့ထဲသို့သွားရာ၌ မြို့သူမြို့သားတို့သည် လုံးဝ ဒွိဟသံသယ မဖြစ်ကြစေရန်) ပရိယာယ် ကျင့်သုံးရမည်။ ၎င်းပြင် ထိုသူသည် အသင်တို့နှင့် ပတ်သက်၍ မည်သူတစ်ဦးတစ်ယောက်ကိုမျှ မသိစေရ။

---

➤➤ အချို့က ဤကိစ္စတွင် ငြင်းခုံနေသည့်အတွက် အကျိုးတစ်စုံတစ်ရာမရှိပါ။ ငါတို့အိပ်ပျော်သွားခဲ့ကြသည်မှာ အဘယ်မျှကြာသွားခဲ့ပြီးကို အလ္လာဟ်အရှင်မြတ် အသိဆုံးပင်ဖြစ်တော်မူသည်။ ယခုမူ ငါတို့သည် စားရေးသောက်ရေး အတွက်စီစဉ်ကြရမည်။ မိမိတို့အနက် တစ်ဦးဦးကို မိမိတို့ယူဆောင်လာခဲ့သော ငွေအသပြာပေး၍ မြို့တွင်းသို့စေလွှတ်ပြီး စင်ကြယ်သန့်ရှင်းသော စားဖွယ်သောက်ဖွယ်များကို ဝယ်ခိုင်းကြရမည်။

မြို့တွင်းသို့ သွားရောက်၍ စားဖွယ်သောက်ဖွယ်များ ဝယ်မည့်သူသည် အလွန်လိမ္မာပါးနပ်ရမည်။ အစစအရာရာ ပိရိရမည်။ ကောင်းစွာ ဆက်ဆံရမည်။ ငါတို့အကြောင်း မြို့သားများမသိစေရ၊ ငါတို့အကြောင်းကို မြို့သားများ တစ်ဦးတစ်ယောက်သိ၍ ဘုရင့်နားသို့ ပေါက်ကြားသွားလျှင် ဘုရင်သည် ငါတို့အား ခဲများဖြင့် ပေါက်သတ်မည်၊ သို့မဟုတ် ငါတို့အား ၎င်း၏ဘာသာအယူဝါဒအတွင်းသို့ အတင်းအဓမ္မ သွတ်သွင်းပေမည်။ ဤသို့ဖြစ်ရလျှင် ငါတို့သည် လိုရာပန်းတိုင်သို့ အလျှင်း ရောက်နိုင်ကြတော့မည်မဟုတ်ပေဟု ပြောဆိုအကြံပေးလေသည်။

သို့အကြံပေးသည့်အတိုင်း စားဖွယ်သောက်ဖွယ်များ ဝယ်နိုင်ရန်အတွက် ၎င်းတို့အနက် လူတစ်ယောက်ကို မြို့တွင်းသို့ စေလွှတ်လိုက်ကြလေသည်။ ထိုသူသည် မြို့တွင်းသို့ ရောက်ရှိလာခဲ့လေသည်။

ထိုသူ့အဖို့မြို့မှာလည်း တစ်မျိုးတစ်ဖုံ ပြောင်းလဲလျက်ရှိနေ၏။ မြို့သားများမှာလည်း သူစိမ်းများလို ဖြစ်နေကြ၏။ အခြေအနေမှာ ယခင်နှင့်မတူချေ။ နောက်ဆုံးတွင် လိုရာစားဖွယ် သောက်ဖွယ်များဝယ်၍➤➤

إِنَّهُمْ إِن يَظْهَرُوا عَلَيْكُمْ يَرْجُمُوكُمْ أَوْ يُعِيدُوكُمْ فِي مِلَّتِهِمْ وَلَن تُفْلِحُوا إِذًا أَبَدًا ﴿٢٠﴾

၂၀။ အဘယ်ကြောင့်ဆိုသော် အကယ်၍ ၎င်းတို့သည် အသင်တို့နှင့်ပတ်သက်၍ သိသွားခဲ့ကြပါလျှင် ထိုသူတို့သည် အသင်တို့အား ခဲဖြင့် ပစ်ပေါက်၍ သတ်ခြင်းကိုသော်လည်းကောင်း၊ မိမိတို့၏ဘာသာ၊ သာသနာတွင်းသို့ ပြန်လည်သိမ်းသွင်းခြင်းကိုသော်လည်းကောင်း၊ ပြုလုပ်ကြမည်ဖြစ်သောကြောင့်ပင်၊ စင်စစ်သော်ကား (အကယ်၍သာ ထိုကဲ့သို့ ဖြစ်ခဲ့ရပါလျှင်) အသင်တို့သည် မည်သည့်အခါမျှပင် အောင်မြင်ကြမည်မဟုတ်ပေ။

---

➤➤ ငွေချေသောအခါ မြို့သားများသည် ၎င်း၏ငွေကို ကြည့်ပြီး အံ့သြနေကြ၏။ ထိုသူထုတ်ပေးသောငွေမှာ ခေတ်သုံးငွေမဟုတ်ပေ၊ ရှေးခေတ်ငွေဖြစ်နေ၏။ ငွေပေါ်၌ ပါရှိသောတံဆိပ်၊ အမှတ်အသား၊ ခုနှစ်များမှာလည်း ရှေးခေတ်ကဖြစ်နေ၏။

မြို့သားများသည် ထိုသူနှင့်ပတ်သက်၍ အမျိုးမျိုးယူဆခဲ့ကြ၏။ အချို့က ထိုသူတို့ထံ၌ ရှေးဟောင်းဘဏ္ဍာတော်တိုက်ရှိသည်ဟု ယူဆခဲ့ကြ၏။ အချို့ကလည်း သူလျှိုဟုယူဆခဲ့ကြ၏။ နောက်ဆုံးတွင် ထိုသူ၏သတင်းသည် ဘုရင့်နားသို့ပေါက်ကြားသွားခဲ့၏။ ဘုရင်သည် ထိုသူအားခေါ်ယူ၍ ကျိုးကြောင်းကုန်စင် မေးမြန်းကြည့်၏။

ထိုသူ၏ပြောပြချက်များကို စဉ်းစားဆင်ခြင်၍ ဘုရင်သည် အတိတ်ခေတ်တွင် ပျောက်ခြင်းမလှ ပျောက်ကွယ်သွားခဲ့သော အချို့လုလင်များအကြောင်း ရေးမှတ်ထားသည့် ကမ္ပည်းကျောက်စာကို တောင်းပြီး ကြည့်ရာ အတိတ်ခေတ်တွင် ပျောက်ကွယ်သွားခဲ့သော လုလင်များမှာ ထိုသူနှင့် အပေါင်းပါများ ဖြစ်နေကြောင်းကို ကောင်းစွာ ရိပ်စားမိလေသည်။

ထိုအချိန်တွင် တိုင်းပြည်၌ "သေပြီးနောက်ပြန်လည်ရှင်ထခြင်း" ပြဿနာနှင့်စပ်လျဉ်း၍ အကြီးအကျယ် အငြင်းပွားလျှက်ရှိခဲ့၏။ အချို့ကသေပြီးနောက် ပြန်ရှင်ရမည်မဟုတ်ဟု ဆိုကြ၏။ အချို့ကသေပြီးနောက် ပြန်လည်ရှင်ခြင်းမှာ ကိုယ်ခန္ဓာမပါ နာမ်သာလျှင် ပြန်လည်ရှင်မည်ဟုဆိုကြ၏။

ဘုရင်သည် အမှန်တရားကို သက်ဝင်ယုံကြည်သူဖြစ်၏။ တရားမျှတ၏ သမာသမတ်ရှိ၏ ဘုရင်သည်လည်း သေပြီးနောက် ရုပ်နှင့်နာမ်ပါ ပြန်လည်ရှင်ထရမည်ကိုယုံကြည်၏။ မိမိ၏ယုံကြည်ချက်နှင့် စပ်လျဉ်း၍ အသိဉာဏ်နှင့် ယှဉ်ပြနိုင်ရန် မျက်မြင် အထောက်အထားတစ်ခုကို ရှာနေခဲ့၏။

ထိုအချိန်တွင် အလ္လာဟ်အရှင်မြတ်သည် သေပြီးနောက် ပြန်လည်ရှင်ထရေးနှင့် စပ်လျဉ်း၍ တွေးဆဆင်ခြင် မော်မြင်သိရှိနိုင်ရန်အတွက် အက်ဆွ်ဟာဗိကဟ်ဖ်တို့အား နှစ်ပရိစ္ဆေဒ အမြောက်အမြား အိပ်ပျော်စေပြီး နောက်မှ ယခင်ပကတိအတိုင်း ပြန်လည်နိုးထစေတော်မူခဲ့လေသည်။

ထိုအခါ တိုင်းပြည်၌ အငြင်းပွားလျက်ရှိနေသော ပြဿနာသည် ပြေလည်သွားပြီး သေပြီးနောက် ရုပ်နာမ်နှင့်တစ်ကွ ပြန်လည်ရှင်ထရမည်ကို ငြင်းနေခဲ့သောသူများသည်လည်း သေပြီးနောက် ရုပ်နာမ်နှင့်တကွ ရှင်ပြန်ထရမည်ကို ယုံကြည်လာခဲ့ကြပေသည်။ ➤➤

وَكَذَٰلِكَ أَعْثَرْنَا عَلَيْهِمْ لِيَعْلَمُوٓا أَنَّ وَعْدَ ٱللَّهِ حَقٌّ وَأَنَّ ٱلسَّاعَةَ لَا رَيْبَ فِيهَآ إِذْ يَتَنَٰزَعُونَ بَيْنَهُمْ أَمْرَهُمْ فَقَالُوا ٱبْنُوا عَلَيْهِم بُنْيَٰنًا رَّبُّهُمْ أَعْلَمُ بِهِمْ قَالَ ٱلَّذِينَ غَلَبُوا عَلَىٰٓ أَمْرِهِمْ لَنَتَّخِذَنَّ عَلَيْهِم مَّسْجِدًا ﴿٢١﴾

၂၁။ စင်စစ်သော်ကား ဤနည်းနှင်နှင် ငါအရှင်မြတ်သည် (ထိုခေတ်ရှိ လူသား တို့အား) ၎င်းတို့နှင့် ပတ်သက်၍ သိစေတော်မူခဲ့လေ၏။သို့မှသာလျှင် (လူတို့သည်) အလ္လာဟ်အရှင်မြတ်၏ ကတိတော် မှန်ကန်ကြောင်းကိုလည်းကောင်း၊ ကိယာမတ်ရှင်ပြန်ထမည့်နေ့နှင့် စပ်လျဉ်း၍ ဒွိဟသံသယ အလျှင်းမရှိကြောင်းကိုလည်းကောင်း၊ သိရှိကြပေမည်။ (ပြန်လည်အောက်မေ့သတိရကြပေကုန်)။ အကြင်အခါဝယ် ထို(ခေတ် ထိုကာလ၌ ရှိခဲ့ကြသော) သူတို့သည် ယင်း(လုလင်)တို့၏ အရေးကိစ္စနှင့် စပ်လျဉ်း၍ ငြင်းခုံနေကြကုန်၏။ ထိုအခါ (ကာဖိရ် သွေဖည်ငြင်းပယ်သူတို့က) ထို(လုလင်)တို့၏အနီးတွင် အဆောက်အအုံ တစ်ခုခုကို တည်ဆောက်ကြလေကုန်ဟု ပြောဆိုခဲ့ကြကုန်၏။

သို့ရာတွင် မိမိတို့၏အရေးကိစ္စ၌ အောင်မြင်ခဲ့ကြကုန်သော(အာဏာပိုင် မုအ်မင်န်သက်ဝင်ယုံကြည်)သူတို့က ကျွန်ုပ်တို့မူကား ယင်း(လုလင်)တို့၏အနီးတွင် ဝတ်ကျောင်းတစ်ခုကို မုချ တည်ဆောက်ကြမည်ဟု ပြောဆိုခဲ့ကြကုန်သတည်း။

سَيَقُولُونَ ثَلَٰثَةٌ رَّابِعُهُمْ كَلْبُهُمْ

၂၂။ မကြာမြင့်မီပင် (အချို့သူတို့က ယင်းလုလင်တို့မှာ) သုံးဦးဖြစ်ခဲ့ကြသည်။ ၎င်းတို့အနက် စတုတ္ထမှာ ၎င်းတို့၏ခွေးဖြစ်သည်ဟု ပြောဆိုကြပေမည်။

➤➤ ထို့နောက် အတ်ဆွ်ဟာဗိကဟ်ဖ်သည် အသက်နှင့်ပင် ရှင်နေခဲ့ကြသည်။ သေသွားခဲ့ကြသည်။ သေသွားခဲ့ကြလျှင် အဘယ်အချိန်တွင် သေသွားခဲ့ကြသည်။ အသက်ရှင်နေခဲ့ကြလျှင် အဘယ်အချိန်အထိ ရှင်နေခဲ့ကြသည် သို့မဟုတ် အဘယ်အချိန်အထိ ရှင်နေကြမည်ဟူသော ပြဿနာနှင့်စပ်လျင်း၍ အလ္လာဟ် အရှင်မြတ်မှတစ်ပါး မည်သူမျှ အတိအကျ မသိပေ။

وَيَقُولُونَ خَمْسَةٌ سَادِسُهُمْ كَلْبُهُمْ رَجْمًا بِالْغَيْبِ وَيَقُولُونَ سَبْعَةٌ وَثَامِنُهُمْ كَلْبُهُمْ قُل رَّبِّي أَعْلَمُ بِعِدَّتِهِم مَّا يَعْلَمُهُمْ إِلَّا قَلِيلٌ فَلَا تُمَارِ فِيهِمْ إِلَّا مِرَاءً ظَاهِرًا وَلَا تَسْتَفْتِ فِيهِم مِّنْهُمْ أَحَدًا ﴿٢٢﴾

ထို့ပြင် (အချို့ သူတို့ကမူ)ငါးဦး ဖြစ်ခဲ့ကြသည်၊ငင်းတို့အနက် ဆဋ္ဌမမှာ ငင်းတို့၏ခွေး ဖြစ်ခဲ့သည်ဟု ပြောဆိုကြမည်။ သို့ရာတွင် (အချို့သူတို့မှာမူကား) ခုနစ်ဦး ဖြစ်ခဲ့ကြသည်။ ထို့ပြင် ငင်းတို့အနက် အဋ္ဌမမှာ ငင်းတို့၏ခွေး ဖြစ်ခဲ့ကြသည်ဟု ပြောဆိုကြပေမည်။

(အို-နဗီတမန်တော်) အသင်သည် (ဤသို့) ပြောကြားပါလေ။ (အချင်းတို့၊ စင်စစ်) ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည်သာလျှင် ငင်းတို့၏အရေအတွက်ကို အသိဆုံးဖြစ်တော်မူ၏။ အနည်းငယ်မျှသောသူတို့မှအပ၊ ငင်း(တို့၏ အရေအတွက်)ကို *မည်သူမျှမသိပေ။* [၁] သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် ငင်းတို့နှင့်ပတ်သက်၍ အပေါ်ယံအားဖြင့် ငြင်းခုံခြင်းမှတစ်ပါး(အကြီးအကျယ်) ငြင်းခုံ (ဆွေးနွေး)ခြင်းကိုမူကား မပြုပါလေနှင့်။ ထိုမှတပါး အသင်သည် ငင်းတို့နှင့်ပက်သက်၍ ထို(ကျမ်းဂန်ရှိသူ)တို့အနက် မည်သူတစ်ဦး တစ်ယောက်ကိုမျှ မေးမြန်းခြင်းကိုလည်း မပြုပါလေနှင့်။

---

(၁) **အတ်ဆွ်ဟာဗီကဟ်ဖ်၏ အရေအတွက်**

အတ်ဆွ်ဟာဗီကဟ်ဖ်၏ အကြောင်းကို ကြားသိရသည့်အခါ တမန်တော်မြတ် လက်ထက်ရှိ အချို့ ယဟူဒီများက "အတ်ဆွ်ဟာဗီကဟ်ဖ်သည် သုံးဦး ဖြစ်သည်။ စတုတ္ထမှာ ငင်းတို့၏ခွေးဖြစ်သည်" ဟူ၍လည်းကောင်း၊ အချို့က "ငါးဦး ဖြစ်သည်၊ ဆဋ္ဌမမှာ ငင်းတို့၏ခွေးဖြစ်သည်ဟူ၍လည်းကောင်း၊ အချို့က ခုနစ်ဦးဖြစ်သည်၊ အဋ္ဌမမှာငင်းတို့၏ခွေးဖြစ်သည်" ဟူ၍လည်းကောင်း၊ အတိအကျမသိ၊ ရမ်းဆ၍ပြောဆိုလေသည်။

ယင်းသို့ အမျိုးမျိုးပြောခြင်းမှာ တမန်တော်မြတ်အား စမ်းသပ်လိုသည့်သဘောဖြင့် ပြောဆိုခြင်းလည်း ဖြစ်နိုင်ပေသည်။ အဘယ့်ကြောင့်ဆိုသော အတ်ဆွ်ဟာဗီကဟ်ဖ်၏ အရေအတွက်ကိုသိသော ယဟူဒီများက ခုနစ်ဦး ဖြစ်သည်ဟု အမှန်အတိုင်း ပြောပြခဲ့ကြသည်လည်း ဖြစ်နိုင်ရာသည်။ ဤသည့်အရေအတွက်ကို ကုရ်အာန်ကျမ်းမြတ်တွင်လည်း ရည်ညွှန်း မိန့်ဆိုထားတော်မူသည်။

အတ်ဆွ်ဟာဗီကဟ်ဖ်၏ အရေအတွက်ကို လူတစ်စုသာလျှင် သိကြသည်။ သာဝကကြီး အဗ္ဗာ့စ်သခင်က "ကျွန်ုပ်သည် ထိုသိသူတစ်စုတွင် အပါအဝင်ဖြစ်သည်" ဟု ထုတ်ဖော်ပြောဆိုသည်။ ➢➢

وَلَا تَقُولَنَّ لِشَاْىءٍ إِنِّي فَاعِلٌ ذَٰلِكَ غَدًا ﴿٢٣﴾

၂၃။ ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် မည်သည့် တစ်စုံတစ်ရာနှင့်မျှ စပ်လျဉ်း၍ ဧကန်အမှန် ငါသည် ယင်းကိစ္စကို နက်ဖြန်ပြုလုပ်အံ့ ဟူ၍ အလျှင်း မပြောဆိုပါလေနှင့်။

إِلَّا أَن يَشَاءَ اللَّهُ ۚ وَاذْكُر رَّبَّكَ إِذَا نَسِيتَ وَقُلْ عَسَىٰ أَن يَهْدِيَنِ رَبِّي لِأَقْرَبَ مِنْ هَٰذَا رَشَدًا ﴿٢٤﴾

၂၄။ "သို့ရာတွင် အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူပါလျှင်" (ပြုလုပ်အံ့ဟု ပြောပါလေ)။ ထိုမှတစ်ပါး အသင်သည် မေ့လျော့၍သွားခဲ့သော် (ပြန်လည်၍ သတိရလာသောအခါ ချက်ချင်း) မိမိအား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်ကို အောက်မေ့တသ သတိရပါလေ။ ၎င်းပြင် အသင်သည် (၎င်းတို့အား အချင်းတို့၊) ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် တရားလမ်းညွှန်ရာ၌ ဤသည်ထက် ပိုမို၍ နီးစပ်သောအရာကို ညွှန်ပြတော်မူတန်ရာသည် ဟု ပြောကြားပါလေ။ ၁

➤➤ သာ၀ကကြီးအလီသခင်ထံမှ တစ်ဆင့် ကြားသိရသည်မှာ အတ်ဆွဟာဗီကဟ်ဖ်၏ အမည်မှာ ယမ်လီခါ၊ မစ်က်ရလီနာ၊မစရ်လီနာ၊ မရ်နူရှ်၊ ဒဗရ်နူရှ်၊ ရှာဇ်နူရှ်၊ ကဖီရှတ်တယူရှ်ဟူ၍ ဖြစ်သည်။ သတ္တမပုဂ္ဂိုလ်မှာ သိုးကျောင်းသမားဖြစ်သည်။ အတ်ဆွကာဗီကဟ်ဖ် စိုးရိမ်၍ တိမ်းရှောင်ထွက်ပြေးလာခဲ့သော ဘုရင်မှာ ဒစ်ကယာနူစ်(နခကျေ) ဖြစ်သည်။ ၎င်းတို့နေထိုင်ခဲ့သော မြို့မှာ အစ်ဖ်စူစ်ဖြစ်သည်။ ၎င်းတို့နှင့်လိုက်ပါလာခဲ့သော ခွေး၏အမည်မှာ ကစ်တွ်မီရ်ဖြစ်သည်။

(၁) **"အင်ရှာအလ္လာဟ်" မပါဘဲ ကတိမပြုရာ။**

တစ်ခါတော် မုရှ်ရစ်က်များသည်၊ ယဟူဒီများ၏ ညွှန်ကြားချက်အရ တမန်တော်မြတ်ထံ လာရောက်၍ စမ်းသပ်လိုသည့်သဘောဖြင့် အချို့ပုစ္ဆာများကို မေးမြန်းခဲ့ကြ၏။ တမန်တော်မြတ်က နက်ဖြန်ခါ ဂျစ်ဗ်ရီလ် လာမည်၊ မေးမြန်း၍ ဖြေကြားမည်ဟူသော မျှော်လင့်ချက်ဖြင့် မုရှ်ရစ်က်တို့အား "ကျွန်ုပ် နက်ဖြန်ခါ အဖြေပေးမည်" ဟု ကတိပြုတော်မူလိုက်လေသည်။ အကြောင်းအားလျော်စွာ ဂျစ်ဗ်ရီလ်သည် ၁၅-ရက်တိုင်တိုင် ပေါ်မလာခဲ့ပေ။

မုရှ်ရ်စက်တို့အား အဖြေပေးရန် ကတိပြုပြီးလည်း ဖြစ်နေ၏။ မုရှ်ရစ်က်တို့ကလည်း ကတိအတိုင်း အဖြေကို တောင်းဆိုလျက်ရှိကြ၏။ ထို့အတွက် တမန်တော်မြတ်သည် ပူပန်သောက ဖြစ်တော်မူခဲ့၏။ ထို့နောက် တွင်မှ ဂျစ်ဗ်ရီလ်သည် ရောက်ရှိလာခဲ့ပေသည်။ မုရှ်ရစ်က်တို့၏ အမေးပုစ္ဆာနှင့် ပတ်သက်သည့် အာယတ်တော် များလည်း ကျရောက်လာခဲ့ပေသည်။

ထို့နောက် တမန်တော်မြတ်အား၊ မည်သည့်ကိစ္စနှင့်ပတ်သက်၍မဆို "အင်ရှာအလ္လာဟ်" (အကယ်၍ အလ္လာဟ်အရှင်မြတ် အလိုတော်ရှိပါသော်) သို့မဟုတ် အခြား အဓိပ္ပာယ်တူစကား ချွင်းချက်ခံပြီးမှ ➤➤

وَلَبِثُوا فِي كَهْفِهِمْ ثَلٰثَ مِائَةٍ سِنِينَ وَازْدَادُوا تِسْعًا ﴿٢٥﴾ قُلِ اللّٰهُ أَعْلَمُ بِمَا لَبِثُوا لَهُ غَيْبُ السَّمٰوٰتِ وَالْأَرْضِ أَبْصِرْ بِهِ وَأَسْمِعْ مَا لَهُمْ مِنْ دُونِهِ مِنْ وَلِيٍّ وَلَا يُشْرِكُ فِي حُكْمِهِ أَحَدًا ﴿٢٦﴾

၂၅။ စင်စစ် (ယင်းလုလင်)တို့သည် မိမိတို့၏ ဥမင်လိုဏ်ခေါင်းတွင် နှစ်ပေါင်း သုံးရာနှင့်ကိုးနှစ်တိုင်တိုင် နေခဲ့ကြကုန်၏။

၂၆။ (အို-နဗီတမန်တော်) အသင်သည်(၎င်းတို့အား အချင်းတို့) ယင်း(လုလင်)တို့နေခဲ့ကြသောအချိန်ကာလ နှစ်ပရိစ္ဆေဒကို အလ္လာဟ်အရှင်မြတ်သည်သာလျှင် အသိဆုံးဖြစ်တော်မူကြောင်း၊ (စင်စစ်) မိုးကောင်းကင်များရှိ ဖုံးကွယ်လျက်ရှိကုန်သောအရာများကိုလည်းကောင်း၊ ပထဝီမြေရှိ ဖုံးကွယ်လျှက်ရှိကုန်သော အရာများကိုလည်းကောင်း၊ သိစွမ်းနိုင်မှုသည် အလ္လာဟ်အရှင်မြတ်၌သာရှိနေပေရာ၊ ထိုအရှင်မြတ်သည် အဘယ်မျှမြင်တော်မူသောအရှင်၊ အဘယ်မျှ ကြားတော်မူသောအရှင် ဖြစ်တော်မူကြောင်း၊ ထိုသူတို့အဖို့ ထိုအရှင်မြတ်မှတစ်ပါး ကိစ္စအဝဝကို ပြီးစီးအောင်ပြုလုပ်၍ ပေးမည့်သူဟူ၍ တစ်ဦးတစ်ယောက်မျှ မရှိကြောင်း၊ စင်စစ်ထိုအရှင်မြတ်သည် မိမိအမိန့်ပြဋ္ဌာန်းမှုတွင် မည်သူတစ်ဦးတစ်ယောက်ကိုမျှပင် ဖက်စပ်ပါဝင်စေတော်မူသည် မဟုတ်ကြောင်း၊ ပြောကြားပါလေ။

➤➤ကတိပြုရန်နှင့် မေ့သွားပါက အလ္လာဟ်အရှင်မြတ်အား အောက်မေ့သတိရရန် သတိပေးထားတော်မူသည်။

ထိုပြင်တစ်ဝ အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်နဗီဖြစ်ကြောင်းနှင့် စပ်လျဉ်း၍ အတ်ဆွ်ဟာဗီကဟ်ဖ်ထက် ပိုမိုထူးကဲ ထင်ရှားသော အထောက်အထားများကို ကျွန်ုပ်အား ပြသတော်မူပါလိမ့်မည်” ဟု ပြောကြားစေတော်မူလေသည်။

ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် တမန်တော်မြတ်သည် နောက်နောင်ဘယ်သောအခါမျှ မေ့မည်မဟုတ်ဟူ၏။ ကြည့်- မူသေ့ ဟုလ်ကုရ်အာန်၊ သို့မဟုတ် အလ္လာဟ်အရှင်မြတ်သည် အတ်ဆွ်ဟာဗီကဟ်ဖ်အား ကာကွယ်ထိန်းသိမ်းတော်မူသည့်နည်းထက်ပင် ပိုမိုထူးကဲစွာဖြင့် တမန်တော်မြတ်အား ကာကွယ်ထိန်းသိမ်းတော်မူမည်ဟူ၏။ (အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား “ဆောင်ရ်” လိုဏ်ဂူတွင် ခိုအောင်းစေတော်မူ၍ ရန်သူတို့၏ ဘေးရန်မှ အံ့မဆုံးသောနည်းဖြင့် လွတ်မြောက်စေတော်မူခဲ့သည်) သို့တည်းမဟုတ် အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်၏နှုတ်မှ အတ်ဆွ်ဟာဗီကဟ်ဖ်၏အဖြစ်ထက် ပိုမိုအံ့ဖွယ်ရာ အဖြစ်အပျက်များကို ပြောကြားစေတော်မူမည် ဖြစ်သည်ဟူ၏။

وَاتْلُ مَآ اُوْحِيَ اِلَيْكَ مِنْ كِتَابِ رَبِّكَ ۚ لَا مُبَدِّلَ لِكَلِمٰتِهٖ ۚ وَلَنْ تَجِدَ مِنْ دُوْنِهٖ مُلْتَحَدًا ﴿٢٧﴾

၂၇။ ထို့ပြင် (အို-နဗီတမန်တော်) အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ ကျမ်းဂန်မှ မိမိထံသို့ ထုတ်ပြန်တော်မူခြင်းခံရသော အမိန့်တော်များကို (၎င်းတို့ရှေ့ဝယ်) ဖတ်ကြားပါလေ။

ထိုအရှင်မြတ်၏ အာယတ်တော်များကို ပြောင်းလဲမည့်သူဟူ၍ တစ်ဦးတစ်ယောက်မျှပင် မရှိချေ။ စင်စစ် အသင်သည် ထိုအရှင်မြတ်(အထံတော်)မှတစ်ပါး ခိုကိုးရာဟူ၍ အလျှင်း တွေ့ရှိလိမ့်မည်မဟုတ်ပေ။ [၁]

وَاصْبِرْ نَفْسَكَ مَعَ الَّذِيْنَ يَدْعُوْنَ رَبَّهُمْ بِالْغَدٰوةِ وَالْعَشِيِّ يُرِيْدُوْنَ وَجْهَهٗ وَلَا تَعْدُ عَيْنٰكَ عَنْهُمْ ۚ تُرِيْدُ زِيْنَةَ الْحَيٰوةِ الدُّنْيَا ۚ

၂၈။ ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် မိမိကိုယ်ကို အကြင်သူတို့နှင့်အတူ ချုပ်တည်း၍ထားပါလေ။ ထိုသူတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ကို ထိုအရှင်မြတ်၏အလိုတော်ကို သာရည်စူး၍ နံနက်ယံ၌လည်းကောင်း၊ ညနေချမ်း၌လည်းကောင်း၊ ဟစ်ခေါ် (တသ သတိရ)ကြကုန်၏။ ထိုမှတစ်ပါး အသင်သည် ဤလောကီဘဝ၏ တင့်တယ်မှုကို ရည်စူးလျက် မိမိ၏ မျက်စိနှစ်လုံးကို ၎င်းတို့ဘက်မှ (ပြန်)မလှည့်ပါလေနှင့် (လျစ်လျူမပြုပါနှင့်၊)

---

(၁) ကုရ်အာန်ကျမ်းမြတ် (၁၈း၂၂)တွင် လိုအပ်သည်မှအပ အငြင်းအခုံမပြုရန် မိန့်ဆိုထားတော်မူသည် ယခုဤအာယတ်တော်တွင် တမန်တော်မြတ်သည် မိမိ၌ တာဝန်ရှိသည့်အတိုင်း ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို တာဝန်သိသိ သစ္စာရှိရှိ စွဲစွဲမြဲမြဲ ဟောကြားရမည့်အကြောင်း ကဲ့ရဲ့ပြစ်တင်သူများအား ဂရုပြု မနေရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များကို မည်သူမျှပြောင်းလဲနိုင်သည်မရှိ၊ လွဲမှားစေနိုင်သည်မရှိ၊ ရွေ့ပါးစေနိုင်သည်မရှိ။

ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို အလွဲသုံးစားပြုလုပ်သော သူယုတ်တို့အဖို့ ခိုကိုးရာဌာန အလျှင်းမရှိ။

ယင်းဒေသနာတော်များကို ယုံကြည်မြတ်နိုးသော သူမွန်သူမြတ်တို့ကား အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို ခိုလှုံကြရပေမည်။ ဤတွင် အတ်ဆ်ဟာဗိကဟ်ဖ်အဖို့ သာဓကတစ်ရပ်ပင်။

وَلَا تُطِعْ مَنْ أَغْفَلْنَا قَلْبَهُ عَن ذِكْرِنَا وَاتَّبَعَ هَوَاهُ وَكَانَ أَمْرُهُ فُرُطًا ﴿٢٨﴾

ထို့ပြင် အသင်သည် အကြင်သူ၏စကားကို မလိုက်နာပါလေနှင့်။ ငါအရှင်မြတ်သည် ထိုသူ၏ စိတ်နှလုံးကို ငါအရှင်မြတ်အား အောက်မေ့တသ သတိရခြင်းမှ မေ့လျော့စေတော်မူခဲ့၏။ [၁] ၎င်းပြင် ထိုသူသည် မိမိ အလိုဆန္ဒကိုသာ လိုက်နာလျက် ရှိနေလေ၏။ စင်စစ်သော်ကား ၎င်း၏အရေးကိစ္စမှာ အလွန်အကျွံပင် ဖြစ်နေချေသတည်း။

---

(၁) မျက်နှာငယ်များအား မပယ်ရာ။

တမန်တော်မြတ်၏ နောက်လိုက်တပည့်များတွင် အများစုမှာ ဆင်းရဲနွမ်းပါးသူများ ဖြစ်ခဲ့ကြပေသည်။ ထိုသည့် တပည့်သားများသည် အမြဲတစေ တမန်တော်မြတ်ထံ ချဉ်းကပ်၍ အဆုံးအမဩဝါဒများကို နာယူလေ့ ရှိခဲ့ကြသည်။ စိတ်စေတနာဖြူစင်စွာဖြင့် အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရကြသည်၊ ကုရ်အာန် ကျမ်းမြတ်ကို ရွတ်ဖတ်ကြသည်။ ဆွတ်လာတ်ဝတ်ပြုကြသည်။ တာဝန်အရပ်ရပ်ကို ကြေပွန်စွာဆောင်ရွက်ကြသည်။

တခါသော် ကာဖိရ်-မုရှ်ရစ်က်တို့အနက် အချို့မျက်နှာကြီးများက တမန်တော်မြတ်အား ကျွန်ုပ်တို့သည် အသင်ထံသို့လာလိုကြသည်။ အစ္စလာမ်ကို ကျွန်ုပ်တို့ သက်ဝင်ယုံကြည်ကြလျှင် ကျွန်ုပ်တို့၏ နောက်လိုက်ငယ်သား အားလုံးတို့သည်လည်း အစ္စလာမ်ကို သက်ဝင်ယုံကြည်လာကြမည် ဖြစ်သည်။ သို့ရာတွင် ကျွန်ုပ်တို့သည် ဤဆင်းရဲသားများနှင့် ကြမ်းတပြေးတည်း မထိုင်နိုင်၊ ကျွန်ုပ်တို့လာသည့်အခါ ဤသူဆင်းရဲများကို ဖယ်ထားပါ စသည်ဖြင့် ပြောဆိုခဲ့ကြလေသည်။

တမန်တော်မြတ်သည် ကမ္ဘာ့အိမ်ထောင်စုကြီးတစ်ခုလုံးအား ကရုဏာတရားပွားများရန်အတွက်ပင် ပွင့်လာတော်မူခဲ့၏။ ကမ္ဘာ့အိမ်ထောင်စုကြီး တစ်ခုလုံးအား ကယ်တင်လိုတော်မူ၏ လူသားထုကြီးတစ်ရပ်လုံးအား အမှန်တရားကို ပြလိုတော်မူ၏။ ကာဖိရ်၊ မုရှ်ရစ်က်အကြီးအကဲများအားလည်း အစ္စလာမ်ဘောင်အတွင်းသို့ ဝင်လာစေလိုတော်မူ၏။

ထိုအခါ ဤအာယတ်တော် ကျရောက်လာခဲ့လေသည်၊ ဤအာယတ်တော်၏ အလိုသဘောမှာ တမန်တော်မြတ်သည် မျက်နှာကြီးကာဖိရ်၊ မုရှ်ရစ်က်တို့အား အကြောင်းပြု၍ ဤမျက်နှာငယ် မွတ်စ်လင်မ် ဆင်းရဲသားတို့ကို လျစ်လျူမပြုရာ၊ မိမိထံမှမဖယ်ရာ၊ အမြဲတစေ ၎င်းတို့နှင့် အတူတကွနေရာ၏။

ဤမျက်နှာငယ် မွတ်စ်လင်မ်ဆင်းရဲသားတို့သည် အစ္စလာမ်ကို နှလုံးသည်းပွတ်တွင်း၌ နှစ်နှစ်ကာကာ သက်ဝင်ယုံကြည်သူများ ဖြစ်ကြပေသည်။ အလ္လာဟ်အရှင်မြတ်အား အမြဲတစေ အောက်မေ့တသ သတိရကြပေသည်။ ထိုအရှင်မြတ်၏ နှစ်သက်မှုကိုသာ လိုလားကြပေသည်။

ကာဖိရ်၊ မုရှ်ရစ်က်တို့မူကား စေတနာမရိုးသားကြပေ၊ မဖြူစင်ကြပေ၊ ၎င်းတို့ထံတွင် မျက်မြင်အားဖြင့် လောကီဂုဏ်ပကာသနရှိသည်မှန်၏။ ဤသည်သခါရပင်ဖြစ်သည်။ ၎င်းတို့၏ဆိုးသွမ်းမိုက်မဲမှုသည် ကမ်းကုန်လျက် ရှိချေပြီ၊ လောကီစည်းစိမ်များတွင် အနစ်ကြီးနစ်လျက် ရှိကြချေပြီ။

အစ္စလာမ့်ဂုဏ်ရောင်မှာ လောကီဥစ္စာ ရွှေ၊ ငွေ၊ ရတနာမဟုတ်၊ ရာထူးဌာနန္တရမဟုတ်၊ စိတ်စေတနာ ဖြူစင်မှု၊ အမိန့်နာခံမှုနှင့် ကိုယ်ကျင့်တရားကောင်းမြတ်မှုသာဖြစ်ပေသည်။ ဤသည့်ဂုဏ်ရည်တို့ကား သခါရမဟုတ်။

وَقُلِ الْحَقُّ مِنْ رَّبِّكُمْ ۚ فَمَنْ شَآءَ فَلْيُؤْمِنْ وَّمَنْ شَآءَ فَلْيَكْفُرْ ۚ إِنَّآ أَعْتَدْنَا لِلظّٰلِمِيْنَ نَارًا ۙ أَحَاطَ بِهِمْ سُرَادِقُهَا ۚ وَإِنْ يَّسْتَغِيْثُوْا يُغَاثُوْا بِمَآءٍ كَالْمُهْلِ يَشْوِي الْوُجُوْهَ ۚ بِئْسَ الشَّرَابُ ۚ وَسَآءَتْ مُرْتَفَقًا ﴿٢٩﴾

၂၉။ ထိုမှတစ်ပါး(အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့) အမှန်တရားသည် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ ရောက်ရှိလာခဲ့ချေပြီ။ သို့ဖြစ်ပေရာ မည်သူမဆို ယုံကြည်လိုလျှင် ယုံကြည်နိုင်၏။ ထိုနည်းတူစွာ မည်သူမဆို ငြင်းပယ်လိုလျှင် ငြင်းပယ်နိုင်၏။ ဧကန်မလွဲ ငါအရှင်မြတ်သည် မတရားကျူးလွန်သူတို့အဖို့ (ငရဲ)မီးကို အသင့်ပြုလုပ်၍ ထားတော်မူလေသည်။ ထိုမီး၏ တံတိုင်းများသည် ၎င်းတို့အား ဝန်းဝိုင်းလျက်ရှိချေမည်။

ထို့ပြင် အကယ်၍ ၎င်းတို့သည် ရေတောင်းကြလျှင် အရည်ကျိုထားသော ခဲရည်ကဲ့သို့သောရေ ပေးခြင်းကိုခံကြရပေမည်။ ထိုရေသည် (သောက်သုံးသူတို့၏)မျက်နှာများကို လောင်ကျွမ်းစေမည် ဖြစ်ပေသည်။ ထိုရေသည် အဘယ်မျှလောက် ဆိုးရွားလှသောရေဖြစ်၍ ထိုငရဲဘုံမှာလည်း အဘယ်မျှလောက် ဆိုးရွားလှသော နားရာနေရာပင် ဖြစ်ချေသနည်း။

إِنَّ الَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ إِنَّا لَا نُضِيْعُ أَجْرَ مَنْ أَحْسَنَ عَمَلًا ﴿٣٠﴾

၃၀။ ဧကန်စင်စစ် အကြင်သူတို့သည် သက်ဝင်ယုံကြည် ခဲ့ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် ကောင်းမြတ်သော အကျင့်သီလများကိုလည်း ကျင့်မူဆောက်တည်ခဲ့ကြကုန်၏။ ဧကန်စင်စစ် ငါအရှင်မြတ်သည် အကျင့်သီလ ကောင်းမြတ်သောသူ၏ ကုသိုလ်အကျိုးကို ဆုံးရှုံးစေတော်မူသည် မဟုတ်ပေ။

أُولٰٓئِكَ لَهُمْ جَنّٰتُ عَدْنٍ تَجْرِيْ مِنْ تَحْتِهِمُ الْأَنْهٰرُ

၃၁။ ဤသူများပင်၊ ၎င်းတို့အဖို့ ထာဝစဉ်တည်သော ဥယျာဉ်များသည် ရှိကြပေမည်။ ၎င်းတို့အောက်မှ စမ်းရေချောင်းများသည် စီးတွေလျက် ရှိကြပေမည်။

ၐင်းတို့သည် ထိုဥယျာဉ်များ၌ ရွှေလက်ကောက်များဖြင့် တန်ဆာဆင်ယင်ပေးခြင်းကို ခံကြရပေမည်။ ထိုမှတစ်ပါး ထိုသူတို့သည် ပါးလွှာသော ပိုးဖျင်မှလည်းကောင်း၊ ထူသော ပိုးဖျင်များမှလည်းကောင်း၊ အစိမ်းရောင် (အဝတ်အစားများကို) ဝတ်ဆင်ကြပေမည်။ (ထိုသူတို့သည်) ယင်းဥယျာဉ်များတွင် သလွန်များပေါ်၌ မှီလျက် ရှိကြပေမည်။ ထို(ကုသိုလ်) အကျိုးသည် အဘယ်မျှလောက် ကောင်းမြတ်သော ကုသိုလ်အကျိုးဖြစ်၍ ထိုဥယျာဉ်သည်လည်း အဘယ်မျှလောက် ကောင်းမြတ်လှစွာသော နားရာနေရာပင် ဖြစ်ချေသနည်း။

يُحَلَّوْنَ فِيهَا مِنْ أَسَاوِرَ مِنْ ذَهَبٍ وَيَلْبَسُونَ ثِيَابًا خُضْرًا مِّنْ سُنْدُسٍ وَإِسْتَبْرَقٍ مُّتَّكِـِٔينَ فِيهَا عَلَى الْأَرَآئِكِ ۚ نِعْمَ الثَّوَابُ ۚ وَحَسُنَتْ مُرْتَفَقًا ﴿٣١﴾

၃၂။ ထို့ပြင် (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား လူနှစ်ယောက်၏ ဥပမာကို ခိုင်းနှိုင်း၍ ပြပါလေ။ ငါအရှင်မြတ်သည် ၎င်းတို့နှစ်ဦးအနက် တစ်ဦးအား စပျစ်ခြံနှစ်ခြံကို ချီးမြှင့်ပေးသနားတော်မူခဲ့လေသည်။ ထို့ပြင် ငါအရှင်မြတ်သည် ယင်းခြံနှစ်ခြံကို စွန်ပလွံပင်များဖြင့် ခြံရံ၍ ပေးတော်မူခဲ့သည်။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထိုခြံနှစ်ခြံ၏အကြားတွင် လယ်တစ်ခုကိုလည်း ချီးမြှင့် ပေးသနားတော်မူခဲ့လေသည်။

وَاضْرِبْ لَهُمْ مَّثَلًا رَّجُلَيْنِ جَعَلْنَا لِأَحَدِهِمَا جَنَّتَيْنِ مِنْ أَعْنَابٍ وَّحَفَفْنٰهُمَا بِنَخْلٍ وَّجَعَلْنَا بَيْنَهُمَا زَرْعًا ﴿٣٢﴾

၃၃။ ထိုခြံနှစ်ခြံမှာ မိမိတို့၏ အသီးအနှံများကို အနည်းငယ်မျှပင် လျော့နည်းစေခြင်းမရှိပဲ (ရာသီမလပ်) သီးပွင့်၍ ပေးလျက်ပင်ရှိခဲ့ကြ၏။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထိုခြံနှစ်ခြံ၏အကြားဝယ် ချောင်းတစ်ခုကိုလည်း စီးထွက်စေတော်မူခဲ့ပေသည်။

كِلْتَا الْجَنَّتَيْنِ اٰتَتْ أُكُلَهَا وَلَمْ تَظْلِمْ مِّنْهُ شَيْـًٔا وَّفَجَّرْنَا خِلٰلَهُمَا نَهَرًا ﴿٣٣﴾

၃၄။ ထိုမှတစ်ပါး ထိုသူ၌ (ယင်းလယ်ယာ ဥယျာဉ်များအပြင် အခြားသော)ဥစ္စာပစ္စည်းများလည်း ရှိခဲ့ပေရာ၊

وَّكَانَ لَهٗ ثَمَرٌ ۚ

فَقَالَ لِصَاحِبِهِ وَهُوَ يُحَاوِرُهُ أَنَا أَكْثَرُ مِنْكَ مَالًا وَأَعَزُّ نَفَرًا ٣٤

၎င်းက မိမိအဖော်အား ထိုအဖော်နှင့် စကားပြောလျက်ရှိစဉ် "ကျွန်ုပ်သည် အသင့်ထက် ဥစ္စာပစ္စည်းအားဖြင့်လည်း (ချမ်းသာကြွယ်ဝ) ပိုမိုများပြားသူဖြစ်သည့်ပြင် ခြွေရံသင်းပင်းအားဖြင့်လည်း (အသင့်ထက်)ပိုမို များပြားသူပင်ဖြစ်ကြောင်း" ပြောဆိုခဲ့လေသည်။

وَدَخَلَ جَنَّتَهُ وَهُوَ ظَالِمٌ لِنَفْسِهِ قَالَ مَا أَظُنُّ أَنْ تَبِيدَ هَٰذِهِ أَبَدًا ٣٥

၃၅။ ၎င်းနောက် ထိုသူသည် မိမိဥယျာဉ်သို့ မိမိကိုယ်ကို မိမိ နှိပ်စက်သူအဖြစ် ဝင်ရောက်လျက် (ဤသို့) ပြောဆိုခဲ့လေသည်။ ကျွန်ုပ်မူကား ဤဥယျာဉ်သည် မည်သည့်အခါ၌မျှ ပျက်စီးလိမ့်မည်မထင်။

وَمَا أَظُنُّ السَّاعَةَ قَائِمَةً وَلَئِنْ رُدِدْتُ إِلَىٰ رَبِّي لَأَجِدَنَّ خَيْرًا مِنْهَا مُنْقَلَبًا ٣٦

၃၆။ ထိုနည်းတူစွာ ကျွန်ုပ်သည် ကိယာမတ် ဖြစ်လိမ့်မည် ဟူ၍လည်းမထင်၊ သို့ရာတွင် အကယ်၍ ကျွန်ုပ်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်သို့ ပြန်ပို့ခြင်းကို ခံခဲ့ရသည့်တိုင်လည်း၊ ဧကန်မလွဲ ကျွန်ုပ်သည် ယင်းဥယျာဉ်ထက် ပိုမို၍ ကောင်းမြတ်သောနေရာကိုပင် ရရှိအံ့သတည်း။

قَالَ لَهُ صَاحِبُهُ وَهُوَ يُحَاوِرُهُ أَكَفَرْتَ بِالَّذِي خَلَقَكَ مِنْ تُرَابٍ ثُمَّ مِنْ نُطْفَةٍ ثُمَّ سَوَّاكَ رَجُلًا ٣٧

၃၇။ (ထိုအခါ) ၎င်း၏အဖော်သည် ၎င်းအား ဖြေကြားသောအားဖြင့် (ဤသို့) ပြောဆိုခဲ့လေ၏။ (အို–ချစ်ဆွေ) အသင်သည် အကြင်အရှင်မြတ်အား သွေဖည်ငြင်းပယ်ခဲ့လေသလော။ ထိုအရှင်မြတ်သည် အသင့်အား (ဦးစွာပထမ) မြေကြီးဖြင့် ဖန်ဆင်းတော်မူခဲ့လေသည်။ ထိုနောက် သုတ်ရည်တစ်စက်ဖြင့် (သန္ဓေတည်စေ)ပြီးနောက် အသင့်အား ယောကျ်ားအဖြစ် ပြီးမြောက်စုံလင်အောင် စီမံဆောင်ရွက်တော်မူခဲ့ပေသည်။

၃၈။ သို့ရာတွင် ထိုအရှင်မြတ်သည် ကျွန်ုပ်အား ဖန်ဆင်းမွေးမြူတော်မူသောအလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ၎င်းပြင် ကျွန်ုပ်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်နှင့် မည်သူတစ်ဦးတစ်ယောက်ကိုမျှ တွဲဖက်နိုင်းယှဉ် ကိုးကွယ်သည် လည်းမဟုတ်ပေ။

لَّٰكِنَّا۠ هُوَ ٱللَّهُ رَبِّي وَلَآ أُشۡرِكُ بِرَبِّيٓ أَحَدٗا ٣٨

၃၉။ ၎င်းပြင် အသင်သည် မိမိဥယျာဉ်သို့ ဝင်ရောက်ခဲ့စဉ်အခါက (မာရှာအလ္လာဟ်လာကူးဝသ အစ်လ္လာဗစ် အလ္လာဟ်)"ဤသည် အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူသောအရာတည်း၊ အလ္လာဟ်အရှင်မြတ်၏ အကူအညီမရှိလျှင် မည်သို့မျှ စွမ်းဆောင်နိုင်ခြင်းမရှိပါ" ဟု အဘယ့်ကြောင့် မဆိုခဲ့ပါသနည်း။ အကယ်၍ အသင်သည် ကျွန်ုပ်အား အသင့်ထက် ပစ္စည်းဥစ္စာအားဖြင့်လည်းကောင်း၊ သားသမီးဥစ္စာအားဖြင့်လည်းကောင်း နည်းပါးသူဖြစ်သည်ဟု မြင်နေပါလျှင်။

وَلَوۡلَآ إِذۡ دَخَلۡتَ جَنَّتَكَ قُلۡتَ مَا شَآءَ ٱللَّهُ لَا قُوَّةَ إِلَّا بِٱللَّهِۚ إِن تَرَنِ أَنَا۠ أَقَلَّ مِنكَ مَالٗا وَوَلَدٗا ٣٩

၄၀။ သို့မြင်နေသော်လည်း ကျွန်ုပ်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အသင်၏ဥယျာဉ်ထက် ပိုမိုကောင်းမြတ်သော (ဥယျာဉ်ကို) ကျွန်ုပ်အား ချီးမြှင့်ပေးသနားတော်မူ၍ (အသင်၏) ထိုဥယျာဉ်ပေါ်၌ မိုးကောင်းကင်မှ မိုးကြိုးလောင်မီး ဘေးအန္တရာယ်တစ်စုံတစ်ရာကို ချတော်မူတန်ရာ၏။ သို့ဖြစ်လျှင် (အသင်၏) ထိုဥယျာဉ်မှာ ချောမွတ်သော မြေပြင်တစ်ခုသာ ဖြစ်သွားအံ့သတည်း။

فَعَسَىٰ رَبِّيٓ أَن يُؤۡتِيَنِ خَيۡرٗا مِّن جَنَّتِكَ وَيُرۡسِلَ عَلَيۡهَا حُسۡبَانٗا مِّنَ ٱلسَّمَآءِ فَتُصۡبِحَ صَعِيدٗا زَلَقًا ٤٠

၄၁။ သို့တည်းမဟုတ် (အသင် ဥယျာဉ်အနီး၌ရှိသော) ချောင်းရေသည် (မြေကြီးအောက်သို့) နက်ဝင်သွားတန်ရာ၏။ သို့ဖြစ်လျှင် အသင်သည် ထိုရေကို အလျှင်း ရှာဖွေ(ထုတ်ယူ)နိုင်မည် မဟုတ်ပေတကား။

أَوۡ يُصۡبِحَ مَآؤُهَا غَوۡرٗا فَلَن تَسۡتَطِيعَ لَهُۥ طَلَبٗا ٤١

وَاُحِيْطَ بِثَمَرِهٖ فَاَصْبَحَ يُقَلِّبُ كَفَّيْهِ عَلٰى مَآ اَنْفَقَ فِيْهَا وَهِيَ خَاوِيَةٌ عَلٰى عُرُوْشِهَا وَيَقُوْلُ يٰلَيْتَنِيْ لَمْ اُشْرِكْ بِرَبِّيْٓ اَحَدًا ﴿٤٢﴾ وَلَمْ تَكُنْ لَّهٗ فِئَةٌ يَّنْصُرُوْنَهٗ مِنْ دُوْنِ اللّٰهِ وَمَا كَانَ مُنْتَصِرًا ﴿٤٣﴾

၄၂–၄၃။ ထို့နောက် ထိုသူ၏ ဥစ္စာပစ္စည်း (ခြံဥယျာဉ် စသည်)များသည် (ဘေးအန္တရာယ်များ၏) ဝန်းဝိုင်းခြင်းကိုခံခဲ့ရလေသည်။ သို့ဖြစ်ရာ ထိုသူသည် ယင်းဥယျာဉ်၌ (မိမိ)သုံးစွဲခဲ့သော (စရိတ်ကြေးငွေ အားလုံး ဆုံးရှုံးပျက်ပြုန်းခဲ့)ရသည့်အတွက် (ဝမ်းနည်းသောအားဖြင့်) မိမိလက်ဝါးနှစ်ဖက်ကို ပွတ်သက်လျက် ရှိနေလေတော့၏။

ငင်းပြင် ယင်းဥယျာဉ်မှာမူကား မိမိ ရာဇမတ်ကာများ အပေါ်၌ ပြိုကျသွား၏။ ထိုအခါ ငင်းမှာ "သြော်–ငါသည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်နှင့် မည်သူတစ်ဦးတစ်ယောက်ကိုမျှ တွဲဖက်နိုင်းယှဉ် ကိုးကွယ်ခြင်းမပြုခဲ့ပါလေသော် တော်လေစွ" ဟု (ဝမ်းနည်းပက်လက်) ပြောဆို ညည်းညူ မြည်တမ်းလျက်ရှိချိမ့်မည်။ ငင်းပြင် ထိုသူ၌ အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်ပြိုင်၍ ငင်းအား ယိုင်းပင်းကူညီနိုင်သော အုပ်စုဟူ၍လည်း အလျှင်းမရှိခဲ့ပေ။ ထို့ပြင် ငင်း(ကိုယ်တိုင်) လည်း (ယင်းပြစ်ဒဏ်မှ လွတ်ကင်းအောင်) တတ်စွမ်းနိုင်ခြင်း မရှိခဲ့ချေတကား။

هُنَالِكَ الْوَلَايَةُ لِلّٰهِ الْحَقِّ ۗ هُوَ خَيْرٌ ثَوَابًا وَّخَيْرٌ عُقْبًا ﴿٤٤﴾

၄၄။ ထိုကဲ့သို့သော အချိန်အခါမျိုးတွင် ကြည့်ရှုစောင်မနိုင်စွမ်းသည် အစစ်အမှန် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၌သာရှိပေသည်။ နောက်ဆုံးအကျိုးချီးမြှင့်တော်မူရာ၌လည်း အမွန်မြတ်ဆုံးသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَاضْرِبْ لَهُمْ مَّثَلَ الْحَيٰوةِ الدُّنْيَا

၄၅။ ထိုမှတစ်ပါး (အိုနဗီတမန်တော်) အသင်သည် ငင်းတို့အား [လောကီဘဝ၏ ဥပမာကို ခိုင်းနှိုင်း၍ ပြပါလေ။ (ဤလောကီသက်တမ်းမှာ) အကြင်အရာနှင့် တူ၏ ]။ [**တစ်နည်း**–လောကီဘဝ၏ ဥပမာကို အကြင်

كَمَآءٍ اَنْزَلْنٰهُ مِنَ
السَّمَآءِ فَاخْتَلَطَ بِهٖ
نَبَاتُ الْاَرْضِ فَاَصْبَحَ
هَشِيْمًا تَذْرُوْهُ الرِّيٰحُ ؕ
وَكَانَ اللّٰهُ عَلٰى كُلِّ شَيْءٍ
مُّقْتَدِرًا ﴿٤٥﴾
اَلْمَالُ وَالْبَنُوْنَ زِيْنَةُ
الْحَيٰوةِ الدُّنْيَا ۚ وَالْبٰقِيٰتُ
الصّٰلِحٰتُ خَيْرٌ عِنْدَ رَبِّكَ
ثَوَابًا وَّخَيْرٌ اَمَلًا ﴿٤٦﴾

ရေနှင့်တူကြောင်း ခိုင်းနှိုင်း၍ပြပါလေ၊] ငါအရှင်မြတ်သည် ထိုရေကို မိုးကောင်းကင်မှ ရွာသွန်းစေတော်မူခဲ့၏။ တစ်ဖန် ထိုရေနှင့် မြေမှပေါက်ရောက်သော သစ်ပင်ငယ်များတို့သည် ရောယှက်၏။ ထို့နောက် ယင်းသစ်ပင်ငယ်များသည် သွေ့ခြောက် ကျေမွသွားခဲ့ရာ လေများသည် ယင်းသစ်ပင်များကို လွင့်စေ၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

၄၆။ ဥစ္စာပစ္စည်းများသည်လည်းကောင်း၊ သားသမီးများသည်လည်းကောင်း၊ လောကီဘဝ၏ တင့်တယ်မှုမျှပင် ဖြစ်ပေသည်။ သို့ရာတွင် ဆက်လက်၍ အမြဲတစေတည်အံ့သော ကောင်းမြတ်သော အကျင့်သီလတို့မှာမူကား၊ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်တွင် ကုသိုလ် အကျိုးအားဖြင့်လည်း အကောင်းဆုံးပင် ဖြစ်ကြပေသည်။ မျှော်လင့်ချက်အားဖြင့်လည်း အကောင်းဆုံးပင်ဖြစ်ပေသတည်း။ [၁]

---

(၁) **အစဉ်အမြဲတည်အံ့သော ကုသိုလ်ရေးများ။**

သား၊ သမီး၊ ပစ္စည်းဥစ္စာ၊ စသည်တို့သည် ဤပစ္စုပ္ပန်ဘဝတွင် အသုံးဝင်သော်လည်း၊ နောင်တမလွန်ဘဝတွင်ကား အသုံးမဝင်ပေ၊ အမြဲတစေကျန်ရှိမည်ဖြစ်သော အမြဲတစေ တည်အံ့သော ကောင်းမွန်မြင့်မြတ်သည့် အကျင့်သီလများသာလျှင် အသုံးဝင်ပေမည်။

ဥပမာ–အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှုကို လိုလား၍ ပညာသင်ကြားပေးခြင်း၊ ဗလီတည်ခြင်း၊ ကျောင်းဆောက်ခြင်း၊ ဇရပ်တည်ခြင်း၊ ရေတွင်း ရေကန်တူးခြင်း၊ ဥယျာဉ်စိုက်ခြင်း၊ မြေယာတိုက်တာများကို 'ဝကဖ်' လုပ်ခြင်း၊ လှူဒါန်းခြင်းနှင့် သားသမီးတို့အား သွန်သင်ဆုံးမပဲ့ပြင်၍ သားကောင်း သမီးကောင်းများဖြစ်အောင် ပြုလုပ်ထားနိုင်ခဲ့ခြင်း၊ မရှိဆင်းရဲသော ကျောင်းသူကျောင်းသားတို့အား ဆက်လက် ပညာဆည်းပူးနိုင်ရန်အတွက် ကူညီထောက်ပံ့ခြင်း၊ ကောင်းမွန်မြင့်မြတ်သော လုပ်ငန်းစဉ်တစ်ရပ်ရပ်ကို အမြဲတစေ အကျိုးသက်ရောက်စေရန် ဆောက်ရွက်ခြင်း စသည့် အပြောအဆို အပြုအမူသီလ အဝဝတို့သည်သာ ဤမည်သော "ဗာကီယာတ် ဆွာလေ့ဟာတ်" အစဉ်အမြဲ တည်အံ့သော ကုသိုလ်ရေးများတွင် အကျုံးဝင်ပေသည်။

وَيَوْمَ نُسَيِّرُ الْجِبَالَ وَتَرَى الْأَرْضَ بَارِزَةً وَحَشَرْنَٰهُمْ فَلَمْ نُغَادِرْ مِنْهُمْ أَحَدًا ﴿٤٧﴾

၄၇။ ၎င်းပြင် အကြင်နေ့ကို(လည်းသတိရသင့်၏၊) ငါအရှင်မြတ်သည် (ထိုနေ့တွင်) တောင်များကို ရွှေ့ရှားစေတော်မူမည်။ ထို့ပြင် အသင်သည် ကမ္ဘာမြေကို လွင်ပြင်ထီးထီးအဖြစ် တွေ့မြင်ပေမည်။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထို(လူသားအားလုံး)တို့ကို ၎င်းတို့အနက် တစ်ဦးတစ်ယောက်ကိုမျှ ချန်ထားခြင်းမရှိပဲ စုရုံးစေတော်မူပေမည်။

وَعُرِضُوا عَلَىٰ رَبِّكَ صَفًّا لَّقَدْ جِئْتُمُونَا كَمَا خَلَقْنَٰكُمْ أَوَّلَ مَرَّةٍۭ بَلْ زَعَمْتُمْ أَلَّن نَّجْعَلَ لَكُم مَّوْعِدًا ﴿٤٨﴾

၄၈။ ထိုမှတစ်ပါး ၎င်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ရှေ့တော်မှောက်တွင် စီတန်း(ရပ်စေ)လျက် (ရှေ့တော်သို့)သွင်းစေခြင်းကို ခံကြရမည်။ (ထိုအခါ ငါအရှင်မြတ်သည် ဤသို့မိန့်ကြားတော်မူပေမည်။) အသင်တို့သည် ငါအရှင်မြတ် အသင်တို့အား ရှေးဦးမဆွ ပထမအကြိမ်က ဖန်ဆင်းတော်မူခဲ့သကဲ့သို့ပင် ငါအရှင်မြတ်အထံတော်သို့ လာခဲ့ကြချေပြီ၊ သို့ရာတွင် အမှန်စင်စစ် အသင်တို့သည် မိမိတို့အတွက် ငါအရှင်မြတ်က (ရှင်ပြန်ထကြရန်) မည်သည့်အချိန် မည်သည့်နေရာကိုမျှ သတ်မှတ်တော်မူလိမ့်မည် မဟုတ်ဟူ၍ ထင်မှတ်နေခဲ့ကြကုန်သတည်း။

وَوُضِعَ الْكِتَٰبُ فَتَرَى الْمُجْرِمِينَ مُشْفِقِينَ مِمَّا فِيهِ وَيَقُولُونَ يَٰوَيْلَتَنَا مَالِ هَٰذَا الْكِتَٰبِ

၄၉။ ၎င်းပြင် (မှတ်တမ်း)စာအုပ်များသည် (ထိုသူတို့ရှေ့တွင်) ချထားလျက်ရှိပေမည်။ ထိုအခါ အသင်သည် အပြစ်ရှိသူတို့အား ယင်း(မှတ်တမ်း)စာအုပ်များ၌ (ရေးသား၍ထားသော) အကြောင်းအရာများကြောင့် ထိတ်လန့်လျက် ရှိနေကြသည်ကို တွေ့မြင်ပေမည်။ ထို့ပြင် ၎င်းတို့က "သြော်-ကျွန်ုပ်တို့ အကျိုးနည်းရလေခြင်း၊ ဤ(မှတ်တမ်း)စာအုပ်သည် မည်သို့သော စာအုပ်ပါနည်း။

لَا يُغَادِرُ صَغِيرَةً وَّلَا كَبِيرَةً إِلَّآ أَحْصٰهَا ۚ وَوَجَدُوا مَا عَمِلُوا حَاضِرًا ۗ وَلَا يَظْلِمُ رَبُّكَ أَحَدًا ﴿٤٩﴾

ဤစာအုပ်သည် မည်သည့် သေးငယ်သော (ပြစ်မှု) တစ်စုံတစ်ရာကိုမျှလည်းကောင်း၊ မည်သည့် ကြီးလေးသော (ပြစ်မှု) တစ်စုံတစ်ရာကိုမျှ လည်းကောင်း၊ ခြွင်းချန်ထားခြင်းမပြုပဲ ရေတွက် (မှတ်သားထား)ခဲ့လေသည်။" ဟု ပြောဆိုမြည်တမ်း ညည်းညူကြပေမည်။ ထိုမှတစ်ပါး ၎င်းတို့သည် မိမိတို့ ကျင့်မူခဲ့သမျှတို့ကိုလည်း (မိမိတို့)ရှေ့ဝယ် အသင့်ရောက်ရှိနေသည်ကို တွေ့ရှိကြရပေမည်။ သို့ရာတွင် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်မှာမူကား မည်သူတစ်ဦး တစ်ယောက်ကိုမျှ မတရား ပြုလုပ်တော်မူမည်မဟုတ်ပေ။ [၁]

وَإِذْ قُلْنَا لِلْمَلٰٓئِكَةِ اسْجُدُوا لِاٰدَمَ فَسَجَدُوٓا إِلَّآ إِبْلِيسَ ۗ كَانَ مِنَ الْجِنِّ فَفَسَقَ عَنْ أَمْرِ رَبِّهٖ ۗ

**၅၀။** ၎င်းပြင် (ပြန်လည်၍ သတိရကြလေကုန်၊) တစ်ရံရောအခါဝယ် ငါအရှင်မြတ်သည် ကောင်းကင်တမန်တို့အား "အသင်တို့သည် အာဒမ်၏အရှေ့ဝယ် ဦးချကြလေကုန်" ဟု မိန့်ကြားတော်မူခဲ့ပေရာ အီဗ်လိစ်မှတစ်ပါး ကောင်းကင်တမန်အပေါင်းတို့သည် ဦးချခဲ့ကြကုန်၏။ ယင်းအီဗ်လီစ်မှာမူကား ဂျင်န်သတ္တဝါတို့အနက်မှဖြစ်ခဲ့ရာ ၎င်းသည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အမိန့်တော်ကို သွေဖည်ခဲ့လေ၏။ [၂]

---

(၁) **ကိယာမတ်၏ မြင်ကွင်းတစ်ရပ်။**

ကိယာမတ်နေ့တွင် ကမ္ဘာတန်ဆာအားလုံးတို့သည် လွင့်စဉ်ပျက်စီးသွားပေမည်၊ ကမ္ဘာမြေကြီး လွင်ပြင်အတိ ဖြစ်သွားပေမည်၊ လူသားအားလုံးတို့သည် တစ်ယောက်မကျန် တန်းစီလျက် အခြွေအရံ အဆောင်အယောင်မပါဘဲ၊ (မိမွေးဘမွေးတိုင်း) အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်သို့ ရောက်ရှိလာကြရပေမည်၊ လူသားအားလုံးတို့သည် မိမိတို့ ပြုမူကျင့်ကြံခဲ့ကြသည်များကို မိမိတို့၏ မှတ်တမ်းတွင် (ခရေစေ့တွင်းကျ) အတိအကျတွေ့ရှိကြရပေမည်။

အပြစ်ရှိသူများသည် အကြောက်ကြီးကြောက်ကြပေမည်၊ မှတ်တမ်းတွင် ကြီးငယ်မဟူ အကျင့်အမူအားလုံး မှတ်သားထားသည်ကို တွေ့ရှိ၍ အံ့အားသင့်ကြပေမည်၊ ဤမှတ်တမ်းကား အံ့မဆုံးပါတကား၊ ငါတို့ကား ပျက်စီးကြရတော့မည်ပါတကား ဟု မြည်တမ်းကြပေမည်။ 

أَفَتَتَّخِذُونَهُۥ وَذُرِّيَّتَهُۥٓ أَوْلِيَآءَ مِن دُونِى وَهُمْ لَكُمْ عَدُوٌّۢ ۚ بِئْسَ لِلظَّٰلِمِينَ بَدَلًا ﴿٥٠﴾

သို့ပါလျက် အသင်တို့သည် ငါအရှင်မြတ်အား စွန့်၍ ယင်းအီဗလီစ်ကိုလည်းကောင်း၊ ယင်းအီဗလီစ်၏ သားမြေးတို့ကိုလည်းကောင်း၊ အဆွေခင်ပွန်းများ ပြုလုပ်ကြလေသလော၊ အမှန်စင်စစ် ၎င်းတို့မှာမူကား အသင်တို့၏ ရန်သူများပင်ဖြစ်ကြကုန်၏။ မတရား ကျူးလွန်သူတို့၏အကျိုးသည် အလွန် ဆိုးရွားလှပေသည်တကား။

مَّآ أَشْهَدتُّهُمْ خَلْقَ ٱلسَّمَٰوَٰتِ وَٱلْأَرْضِ وَلَا خَلْقَ أَنفُسِهِمْ وَمَا كُنتُ مُتَّخِذَ ٱلْمُضِلِّينَ عَضُدًا ﴿٥١﴾

၅၁။ ငါအရှင်မြတ်သည် ယင်းရှိုင်တွာန်မိစ္ဆာကောင်တို့အား မိုးကောင်းကင်များကို ဖန်ဆင်းတော်မူရာ၌လည်းကောင်း၊ ပထဝီမြေကြီးကို ဖန်ဆင်းတော်မူရာ၌လည်းကောင်း၊ အဆင်သင့် ခေါ်ထားတော်မူခဲ့သည်မဟုတ်ပေ။ ထိုနည်းတူစွာ ၎င်းတို့အား ဖန်ဆင်းတော်မူရာ၌လည်း (အဆင့်သင့်ခေါ်ထားခြင်းကို ပြုတော်)မမူခဲ့ချေ၊ အမှန်စင်စစ်သော်ကား ငါအရှင်မြတ်သည် (သူတစ်ပါးကို) လမ်းလွဲစေသောသူတို့အား (မိမိ)လက်ရုံးအဖြစ် ပြုတော်မူမည့်အရှင်မြတ် မဟုတ်ပေ။ ၁

>> အလ္လာဟ်အရှင်မြတ်သည် တရားသဖြင့် အဆုံးအဖြတ်ပေးတော်မူမည်၊ သူမွန်သူမြတ်တို့သည် ဂျန္နတ်သို့လား၍၊ သူယုတ်တို့မူကား ဂျဟန္နမ်သို့ လားကြရပေမည်။

(၂) ဖခင်ကြီးအာဒမ်နှင့် ရှိုင်တွာန် အီဗလီးစ်၏အကြောင်းသည် ကုရ်အာန်(၂း၃၀-၃၉)နှင့် (၇း၁၁-၃၁)တွင် အကျယ်တဝင့် ပါရှိခဲ့လေပြီ၊ သက်ဆိုင်ရာ အောက်ခြေအမှတ်များကို ပြန်လည်ရှုပါကုန်။ လောကီစည်းစိမ်များတွင် နစ်မွန်းနေခြင်းမှာ ရှိုင်တွာန် သွေးဆောင်ဖြားယောင်းမှု၏ ကျော့ကွင်းတွင် သက်ဆင်းခြင်း၏ အကျိုးပင်ဖြစ်သည်။

လူသားတို့သည် ဖခင်ကြီးအာဒမ်၏ သားသမီးများသာ ဖြစ်ကြပေသည်၊ ဖခင်ကြီးအာဒမ်သည် ဂျန္နတ်တွင် နေထိုင်ခဲ့၏။ ဂျန္နတ်သည် ဖခင်ကြီးအာဒမ်၏ မူလဌာနဖြစ်ခဲ့ပေရာ ယင်းဂျန္နတ်သည် လူသားတို့၏ မူလဌာနလည်းဖြစ်ပေသည်၊ သတ္တဝါအပေါင်းတို့သည် မိမိတို့၏ မူလဌာနသို့ ပြန်လည်သွားလိုကြသည်သာ ဖြစ်သည်။ ရှိုင်တွာန်သည် မိမိ၏မောက်မာမှု၊ သွေ့ဖည်မှုများကြောင့်ယင်းဂျန္နတ်မှ မောင်းထုတ်ခြင်း ခံခဲ့ရသည်သာမက ငရဲသားတို့တွင် အပါအဝင်ဖြစ်ခဲ့ရချေပြီ၊ ထို့အတွက် "မစားရသည့်အမဲ သဲနှင့်ပက်" ဆိုသကဲ့သို့ လူသားတို့အား နည်းပရိယာယ် အမျိုးမျိုးတို့ဖြင့် ဖျက်ဆီးလျက်ရှိချေပြီ၊ နောင်တမလွန်အရေးကိုမေ့၍ လောကီစည်းစိမ်များတွင် နစ်မွန်းပြီး ဥစ္စာဂုဏ်မောက်ကာ ဆင်းရဲသားတို့အား အထင်အမြင်သေးသော မောင်မောက်မာ၊ မယ်မောက်မာ၊ မောင်သွေ့ဖည်၊ မယ်သွေ့ဖည်တို့သည် ရှိုင်တွာန်၏ သစ္စာရေ သောက်သုံးထားကြသော လူရှိုင်တွာန်များသာ ဖြစ်ကြပေသတည်း။

(၁) အလ္လာဟ်အရှင်မြတ်သည် မိုးမြေများကို စတင်ဖန်ဆင်းတော်မူခဲ့သည့် အချိန်တွင်လည်း ဖန်ဆင်းပုံ>>

وَيَوْمَ يَقُولُ نَادُوا شُرَكَآءِيَ الَّذِينَ زَعَمْتُمْ فَدَعَوْهُمْ فَلَمْ يَسْتَجِيبُوا لَهُمْ وَجَعَلْنَا بَيْنَهُم مَّوْبِقًا ﴿٥٢﴾

၅၂။ ထိုနည်းတူစွာ အကြင်နေ့ကိုလည်း (သတိထားကြလေကုန်) ထိုအရှင်မြတ်သည် (ထိုနေ့တွင် မုရှ်ရစ်က်တို့အား) အသင်တို့သည် မိမိတို့ ယုံကြည် (ကိုးကွယ်)ခဲ့ကြသော ငါအရှင်မြတ်၏တွဲဖက်များကို ဟစ်ခေါ်ကြလေကုန်ဟု မိန့်ကြားတော်မူလေသောအခါ ၎င်းတို့သည် ယင်းတွဲဖက်များကို ဟစ်ခေါ်ကြပေမည်။ သို့ရာတွင် ယင်းတွဲဖက်များမှာမူကား ၎င်းတို့အား ပြန်၍ထူးကြမည် မဟုတ်ပေ။ ၎င်းပြင် ငါအရှင်မြတ်သည် ယင်း(မုရှ်ရစ်က်တို့နှင့် ၎င်းတို့၏ကိုးကွယ်ရာ)တို့၏စပ်ကြားတွင် အကွယ်အကာတစ်ခု ချထားတော်မူပေမည်။

وَرَءَا الْمُجْرِمُونَ النَّارَ فَظَنُّوا أَنَّهُم مُّوَاقِعُوهَا وَلَمْ يَجِدُوا عَنْهَا مَصْرِفًا ﴿٥٣﴾

၅၃။ ထိုမှတစ်ပါး အပြစ်ရှိသူတို့သည် (ဂျဟန္နမ်ငရဲ)မီးကို တွေ့မြင်ကြသောအခါ ၎င်းတို့သည် ဧကန်မလွဲ မိမိတို့မှာ ယင်းမီးထဲသို့ ကျဆင်းအံ့သောသူများပင် ဖြစ်ကြသည်ဟု ယုံကြည်ကြပေမည်။ သို့ရာတွင် ၎င်းတို့သည် ယင်းမီး(ဘေးမှ) လွှဲရှောင်နိုင်ရန် နေရာတစ်စုံတစ်ခုကိုမျှ တွေ့ရှိကြမည် မဟုတ်ပေ။

---

➤➤ ကောင်းမကောင်း၊ သင့်မသင့်၊ သပ်ယပ်မသပ်ယပ် နှင့်စပ်လျဉ်း၍ ရှိုင်တွာန်များအား ခေါ်ပြီး ပြသဟော်မူခဲ့သည်လည်း မဟုတ်၊ အကြံဉာဏ် တောင်းခဲ့သည်လည်းမဟုတ်၊ အကူအညီတောင်းခဲ့သည်လည်း မဟုတ်၊ မိုးမြေများကို စတင်ဖန်ဆင်းတော်မူသည့်အချိန်တွင် ယင်းရှိုင်တွာန်များသည် ရှိပင်မရှိကြသေးပေ။

၎င်းတို့အား ဖန်ဆင်းတော်မူသည့်အချိန်တွင်လည်း အဘယ်ပုံအဘယ်နည်း ဖန်ဆင်းရမည့်အကြောင်းနှင့် စပ်လျဉ်း၍ ၎င်းတို့အားခေါ်၍ တိုင်ပင်တော်မူခဲ့သည်လည်းမဟုတ်၊ အကူအညီတောင်းခဲ့သည်လည်း မဟုတ်၊ [မပြောအပ်မဆိုအပ်] အကယ်၍ အလ္လာဟ်အရှင်မြတ်သည် အကူအညီ တောင်းတော်မူခဲ့သည်ဟူ၍ ခေတ္တဆိုပါက (မတောင်းခဲ့သည်မှာ အမှန်ပင် အကူအညီတောင်းရန် အကြောင်းပင်မရှိ။) အလ္လာဟ်အရှင်မြတ်၏ သာသနာတော်ကို ဖြောင့်ဖြောင့်ကြီး သွေဖည်ဆန့်ကျင်ကြမည့် ယင်းရှိုင်တွာန်များထံမှ အသို့လျှင် အကူအညီတောင်းတော်မူအံ့နည်း။

အလ္လာဟ်အရှင်မြတ်သည် တန်ခိုးတော်အနန္တရှင် ဖြစ်တော်မူသည်၊ မည်သူ့ထံမှ အကူအညီတောင်းရန် မလိုပေ၊ အကူအညီတောင်းရန် အကြောင်းလည်းမရှိ၊ ထိုအရှင်မြတ်၌ ဂုဏ်ရည်တူဟူ၍ အလျင်းမရှိ။ သို့ပါလျက် လူသားတို့သည် အလ္လာဟ်အရှင်မြတ်အားစွန့်၍ ယင်းသို့သော ရှိုင်တွာန်များအား အသို့လျှင် ဆည်းကပ်ကိုးကွယ်ကြသနည်း။ အသို့လျှင် ၎င်းတို့နှင့် မိတ်ဖွဲ့နေကြသနည်း။

وَلَقَدْ صَرَّفْنَا فِي هَٰذَا الْقُرْآنِ لِلنَّاسِ مِن كُلِّ مَثَلٍ ۚ وَكَانَ الْإِنسَانُ أَكْثَرَ شَيْءٍ جَدَلًا ﴿٥٤﴾

၅၄။ ၎င်းပြင် ငါအရှင်မြတ်သည် ဤကုရ်အာန်ကျမ်းတော်မြတ်တွင် လူတို့၏အကျိုးငှာ ဥပမာ ပုံဆောင်ချက် အလုံးစုံတို့ကို အနည်းနည်း အဖုံဖုံဖြင့် မိန့်ကြားတော်မူခဲ့ပေသည်။ စင်စစ် လူသားတို့မှာ အရာခပ်သိမ်းတို့ထက် အငြင်းအသန်ဆုံးပင် ဖြစ်ကြကုန်သတည်း။

وَمَا مَنَعَ النَّاسَ أَن يُؤْمِنُوا إِذْ جَاءَهُمُ الْهُدَىٰ وَيَسْتَغْفِرُوا رَبَّهُمْ إِلَّا أَن تَأْتِيَهُمْ سُنَّةُ الْأَوَّلِينَ أَوْ يَأْتِيَهُمُ الْعَذَابُ قُبُلًا ﴿٥٥﴾

၅၅။ စင်စစ် လူတို့အား ၎င်းတို့ထံ တရားလမ်းမှန်ရောက်ရှိခဲ့ပြီးနောက် သက်ဝင်ယုံကြည်ခြင်းမှလည်းကောင်း၊ မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်တွင် လွတ်ငြိမ်းခွင့်ကို အသနားခံပန်ကြားခြင်းမှလည်းကောင်း၊ (မည်သည့်အရာကမျှပင်) တားဆီးခဲ့သည့် မဟုတ်ပေ။ သို့ရာတွင် ထိုသူတို့သည် မိမိတို့ထံ ရှေးသူဟောင်းတို့(ထံ ရောက်ရှိခဲ့သည့် စီရင်ချက်)ကဲ့သို့သော စီရင်ချက်သည် ရောက်ရှိလာခဲ့ခြင်းကိုသော်လည်းကောင်း၊ မိမိတို့ထံ အမျိုးမျိုးသောပြစ်ဒဏ်များသည် ဆိုက်ရောက်လာခြင်းကိုသော်လည်းကောင်း၊ (စောင့်မျှော်၍ပင်နေခဲ့ကြကုန်သတည်း၊)

وَمَا نُرْسِلُ الْمُرْسَلِينَ إِلَّا مُبَشِّرِينَ وَمُنذِرِينَ ۚ وَيُجَادِلُ الَّذِينَ كَفَرُوا بِالْبَاطِلِ لِيُدْحِضُوا بِهِ الْحَقَّ ۖ وَاتَّخَذُوا آيَاتِي وَمَا أُنذِرُوا هُزُوًا ﴿٥٦﴾

၅၆။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ရစူလ်တမန်တော်တို့အား သတင်းကောင်းပြောကြားသူများ သတိပေးနှိုးဆော်သူများအဖြစ်သာလျှင် စေလွှတ်တော်မူ၏။ သို့ရာတွင် ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့မှာမူကား မတရားသဖြင့် အငြင်းအခုံ ပြုကြကုန်၏။ (သို့အငြင်းအခုံ ပြုကြခြင်းမှာ ၎င်းတို့သည် အငြင်းခုံမှုဖြင့် အမှန်တရားကို ချွတ်ချော်စေအံ့သောငှာ (ဖြစ်ပေသည်)။ ၎င်းပြင် ထိုသူတို့သည် ငါအရှင်မြတ်၏ သက်သေလက္ခဏာတော်များကိုလည်းကောင်း၊ မိမိတို့ သတိပေးနှိုးဆော်ခြင်း ခံကြရသည်များကိုလည်းကောင်း၊ ပြက်ရယ်ဖွယ်များ ပြုလုပ်ခဲ့ကြကုန်သတည်း။

وَمَنْ اَظْلَمُ مِمَّنْ ذُكِّرَ بِاٰيٰتِ رَبِّهٖ فَاَعْرَضَ عَنْهَا وَنَسِيَ مَاقَدَّمَتْ يَدٰهُ ؕ اِنَّا جَعَلْنَا عَلٰى قُلُوْبِهِمْ اَكِنَّةً اَنْ يَّفْقَهُوْهُ وَفِيْٓ اٰذَانِهِمْ وَقْرًا ؕ وَاِنْ تَدْعُهُمْ اِلَى الْهُدٰى فَلَنْ يَّهْتَدُوْٓا اِذًا اَبَدًا ﴿۵۷﴾

၅၇။ အမှန်စင်စစ်သော်ကား အကြင်သူထက် မတရားသောသူသည် မည်သူရှိအံ့နည်း။ ထိုသူသည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ သက်သေလက္ခဏာတော်များဖြင့် ဆုံးမခြင်းကို ခံခဲ့ရသော်လည်း ထိုသူသည် ယင်းသက်သေလက္ခဏာတော်များမှ မျက်နှာလွှဲခဲ့လေသည်။ ၎င်းပြင် ထိုသူသည် ၎င်း၏ လက်နှစ်ဘက်က ကြိုတင်ပို့နှင့်ပြီးဖြစ်သည့် (ပြစ်မှုဒုစရိုက်)များကိုလည်း မေ့ပျောက်ခဲ့ပေသည်။

ဧကန်စင်စစ် ငါအရှင်မြတ်သည် ထို(ကဲ့သို့သော)သူတို့၏ စိတ်နှလုံးများပေါ်ဝယ် ထိုသူတို့သည် ယင်း(အမှန်တရား)ကို နားမလည်နိုင်ကြရန် အဖုံးအအုပ်များကိုလည်းကောင်း၊ ထိုသူတို့၏ နားပင်းမှုကိုလည်းကောင်း၊ ပြုလုပ်တော်မူခဲ့၏။ စင်စစ် အကယ်၍ အသင်သည် ၎င်းတို့အား တရားလမ်းမှန်သို့ ဖိတ်ခေါ်ငြားသော်လည်း ၎င်းတို့သည် ဤအခြေအနေတွင် မည်သည့်အခါ၌မျှပင် လမ်းမှန်ကို အလျှင်း ရရှိကြမည်မဟုတ်ပေ။

وَرَبُّكَ الْغَفُوْرُ ذُو الرَّحْمَةِ ؕ لَوْ يُؤَاخِذُهُمْ بِمَا كَسَبُوْا لَعَجَّلَ لَهُمُ الْعَذَابَ ؕ بَلْ لَّهُمْ مَّوْعِدٌ لَّنْ يَّجِدُوْا مِنْ دُوْنِهٖ مَوْئِلًا ﴿۵۸﴾

၅၈။ ဧကန်မလွဲ အသင်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အလွန်တရာလွတ်ငြိမ်းချမ်းသာခွင့်ပေးတော်မူသောအရှင်၊ ကရုဏာတော်ရှင်ဖြစ်တော်မူပေသည်။ အကယ်၍သာ ထိုအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့ ရှာဖွေဆည်းပူးခဲ့ကြကုန်သော ပြစ်မှုဒုစရိုက်များကြောင့် ဖမ်းဆီးအရေးယူတော်မူပါလျှင် အမှန်ပင် ထိုအရှင်မြတ်သည် ၎င်းတို့အပေါ်၌ ပြစ်ဒဏ်ကို အစောတလျှင် ကျရောက်စေတော်မူခဲ့ပေမည်။

သို့ရာတွင် စစ်စစ်မှာမူကား ၎င်းတို့အဖို့ ချိန်းချက်ထားသောအချိန် တစ်ချိန်သည် ရှိနေပေရာ ၎င်းတို့သည် ထိုပြစ်ဒဏ်(ကို ခံစားကြရသည်)မှတစ်ပါး ထွက်ပြေးလွတ်မြောက်ရန် နေရာဌာန တစ်စုံတစ်ခု ကိုမျှပင် အလျှင်း တွေ့ရှိမည် မဟုတ်ပေတကား။

وَتِلْكَ الْقُرَىٰٓ أَهْلَكْنٰهُمْ لَمَّا ظَلَمُوْا وَجَعَلْنَا لِمَهْلِكِهِمْ مَّوْعِدًا ﴿٥٩﴾

၅၉။ စင်စစ် ဤသည်(တို့သည်) အကြင်မြို့(သူ)ရွာ(သား)များပင်။ ငါအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့ မတရားကျူးလွန်ခဲ့ကြသောအခါ ဖျက်ဆီးတော်မူခဲ့၏။ အမှန်သော်ကား ငါအရှင်မြတ်သည် ၎င်းတို့ ပျက်စီးကြရန်အလို့ငှာ ချိန်းချက်ထားသောကာလ တစ်ခုကို ပြုလုပ်သတ်မှတ်တော်မူခဲ့ပေသတည်း။

وَإِذْ قَالَ مُوْسٰى لِفَتٰىهُ لَآ أَبْرَحُ حَتّٰىٓ أَبْلُغَ مَجْمَعَ الْبَحْرَيْنِ أَوْ أَمْضِيَ حُقُبًا ﴿٦٠﴾

၆၀။ ၎င်းပြင် (ပြန်လည်အောက်မေ့ သတိရကြလေကုန်)။ တစ်ရံရောအခါဝယ် (နဗီတမန်တော်)မူစာသည် မိမိနောက်ပါတပည့်အား ငါသည် မြစ်နှစ်သွယ်ဆုံရာသို့ ရောက်ရှိသည့်တိုင်အောင် မရပ်မနား သွားပေမည်၊ သို့တည်းမဟုတ် ငါသည် နှစ်ရှည်လများ သွား၍ပင်နေမည်ဟု ပြောကြားခဲ့လေသည်။ ၁

(၁) **တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)နှင့် ခိသ္ဇ်ရ်(အလိုင်ဟစ္စလာမ်)။**

အထက်တွင် မောက်မာပလွှားသော ကာဖိရ်များနှင့် ဆင်းရဲနွမ်းပါးသော မွတ်စ်လင်မ်များအကြောင်း၊ ထို့နောက် အလ္လာဟ်အရှင်မြတ်အား မယုံကြည်သော ကာဖိရ်တစ်ဦးနှင့် အလ္လာဟ်အရှင်မြတ်အား ယုံကြည်သော မွတ်စ်လင်မ်တစ်ဦး၏အကြောင်း၊ ထို့နောက် ဤပစ္စက္ခဘဝ၏ ပုံဆောင်ချက်၊ ထိုနောက် ဖခင်ကြီး အာဒမ်နှင့် မောက်မာသော အီဗ်လီစ်၏ အကြောင်းများကို မိန့်ဆိုထားတော်မူသည်၊ ယခု ဤအာယတ်တော်များတွင် တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)နှင့် ခိသ္ဇ်ရ် (အလိုင်ဟစ္စလာမ်)၏ အကြောင်းကို မိန့်ဆိုထားတော်မူသည်။

အလ္လာဟ်အရှင်မြတ်၏ ရွေးချယ်မြှောက်စားခြင်းကို ခံကြရကုန်သော ပုဂ္ဂိုလ်မွန် ပုဂ္ဂိုလ်မြတ်တို့သည် အားလုံးထက် မြင့်မြတ်ကြသော်လည်း မိမိတို့ကိုယ်ကို မိမိတို့ မြင့်မြတ်ကြသည်ဟု မဆိုကြပေ။ တစ်ခါတစ်ရံ လူ့သဘာဝအလျောက် မေ့မှား၍ ပြောဆိုမိကြပါက အလ္လာဟ်အရှင်မြတ်ထံတော်မှ သတိပေးတော်မူခြင်းကို ခံကြရပေသည်။



➤➤ ဟဒီးစ်တော်တွင်လာရှိသည်မှာ တစ်နေ့သော် တမန်တော်မူစာသည် မိမိ၏အမျိုးသားများအား အလွန် အဘိုးထိုက်တန်သော အဆုံးအမ ဩဝါဒများကို စာပေဂုဏ်မြောက်စွာဖြင့် ထိထိမိမိ ဟောကြားနေတော်မူခဲ့၏။

ထိုအချိန်တွင် ပုဂ္ဂိုလ်တစ်ဦးက"အို-တမန်တော်၊ အသင်သည် ဤကမ္ဘာမြေပြင်တွင် မိမိထက် ပညာသာသော ပညာရှင်တစ်ဦးတစ်ယောက်ကို တွေ့ဘူးပါသလော" ဟုမေးရာ၊ တမန်တော်မူစာက "မတွေ့ဘူးပါ" ဟု ဖြေကြားလိုက်လေသည်။

တမန်တော်မူစာ၏ အဖြေသည်မှန်သည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မူစာသည် အထူးထူး သော ဂုဏ်ထူးဝိသေသများနှင့် ပြည့်စုံသော တမန်တော်များတွင် တစ်ပါး အပါအဝင်ဖြစ်သည်။ သို့ဖြစ်ပေရာ ထိုခေတ်ထိုအခါတွင် သာသနာရေးဆိုင်ရာပညာရပ်များကို တမန်တော်မူစာထက် ပို၍ အသူတတ်သိ နားလည် နိုင်အံ့နည်း။

သို့တစေလည်း တမန်တော်မူစာ၏ အဖြေသည် အတွင်းအလိုသဘောအရကား မှန်သော်လည်း မျက်မြင်အရဆိုလျှင် တမန်တော်မူစာသည် ကမ္ဘာမြေအဝှန်းတွင် အဘက်ဘက်၌ လူသားတို့အနက် မိမိသည် အသိဆုံး၊ အတတ်ဆုံးဖြစ်သည်ဟု ယူဆသယောင်ရှိသည်ဟုလည်း တွေးထင်စရာဖြစ်နေသည်။

အလ္လာဟ်အရှင်မြတ်၏အလိုတော်ကား တမန်တော်မူစာသည် ယင်းသို့ မဖြေကြားဘဲ အလုံးစုံကို သိတော်မူသော အရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အား လွှဲပုံအပ်ပေသည်။

ဥပမာ-ကမ္ဘာမြေပြင်တွင် အလ္လာဟ်အရှင်မြတ် ရွေးချယ်မြှောက်စားထားတော်မူသော ပုဂ္ဂိုလ်မွန် အမြောက်အမြား ရှိကြပေသည်၊ မည်သူမည်ဝါ ပညာအဘယ်မျှတတ်သည်ကို အလ္လာဟ်အရှင်မြတ်သာလျှင် အသိဆုံး ဖြစ်တော်မူသည် စသည်ဖြင့် ဖြေကြားအပ်ပေသည်။

တမန်တော်မူစာ ယင်းသို့ ဖြေကြားလိုက်သည့်အခါ အလ္လာဟ်အရှင်မြတ်ထံတော်မှ "မြစ်နှစ်သွယ် ဆုံစီးသော နေရာတွင် ငါ၏ကျွန်တစ်ယောက်ရှိသည်၊ ထိုကျွန်သည် (အချို့ပညာရပ်များတွင်) အသင့်ထက်သာ သည် ဟူ၍ အာယတ်တော် ကျရောက်လာခဲ့ပေသည်။

ထိုအခါ တမန်တော်မူစာက၊ ကျွန်တော်မျိုးသည် အဆိုပါပညာရှင်ထံသို့ သွားရောက်၍ ပညာဆည်းပူး လိုပါသည်၊ ထိုပညာရှင်ထံသို့ သွားရောက်နိုင်ရန်အတွက် ထိုပညာရှင်၏ နေရာဌာနကို အပြည့်အဝ ညွှန်ပြတော် မူပါဟု လျှောက်ထား၏။

အလ္လာဟ်အရှင်မြတ်က "အသင်သည် ထိုပညာရှင်ထံသို့ သွားရောက်ရန် စတင်ခရီးထွက်သည့်အခါ၊ ငါးတစ်ကောင်ကို ကြော်၍ မိမိနှင့်အတူ ယူဆောင်သွားလေ၊ ငါးပျောက်သွားသည့် နေရာတွင် အဆိုပါ ပညာရှင်ရှိသည်" ဟု ညွှန်ကြားတော်မူလိုက်လေသည်။

တမန်တော်မူစာသည် အလ္လာဟ်အရှင်မြတ် ညွှန်ပြတော်မူသည့်အတိုင်း အဆိုပါပညာရှင်ထံ သွားရောက် နိုင်ရန်အတွက် မိမိ၏တပည့်ရင်း ယူရှအ်အား မိမိနှင့်အတူခေါ်ဆောင်၍ ယူရှအ်အားလည်း "ငါသည် အဆိုပါ ပညာရှင်ထံသို့ နှစ်ပရိစ္ဆေဒ အဘယ်မျှပင် ကြာညောင်းသွားသည် ဖြစ်ပါစေ၊ မရောက်မချင်း ခရီးသွားမည်၊ အသင်သည် ငါးကြော်ကို အထူးဂရုစိုက်ပါ" ဟု အမှတ်တရ မှာကြားကာ ခရီးစတင်ထွက်ခဲ့လေသည်။

**မြစ်နှစ်သွယ် ဆုံစီးရာနေရာ။**

မြစ်နှစ်သွယ်ကား အဘယ်နည်း။ ဆုံစီးရာနေရာကား အဘယ်မှာနည်း။ ဤတွင် အဆိုကွဲပြားလျက် ရှိပေသည်။ အချို့ပညာရှင်များက မြစ်နှစ်သွယ်ဟူသည် ပါးရှင်းပင်လယ်နှင့် (Mediterranaen Sea) ရောမ ပင်လယ်နှစ်ခုကို ဆိုလိုသည်ဟု ဆိုကြသည်၊ သို့ရာတွင် မျက်မြင်အားဖြင့် အဆိုပါပင်လယ်နှစ်ခုသည် ➤➤

فَلَمَّا بَلَغَا مَجْمَعَ بَيْنِهِمَا نَسِيَا حُوتَهُمَا فَاتَّخَذَ سَبِيلَهُ فِي الْبَحْرِ سَرَبًا ﴿٦١﴾

၆၁။ ထိုနောက် ၎င်း(မူစာနှင့် နောက်ပါတပည့်) နှစ်ဦးစလုံးသည် ထိုမြစ်နှစ်သွယ်ဆုံရာသို့ ရောက်ရှိခဲ့ကြသောအခါ ၎င်းတို့နှစ်ဦးသည် မိမိတို့၏ငါးကို မေ့သွားခဲ့ကြ၏။ စင်စစ် ယင်းငါးသည် မြစ်ထဲတွင် မိမိလမ်းကို အက်ကြောင်းရှည်ကြီး ပြုလုပ်လျက် လျှောဆင်း၍ သွားခဲ့လေသည်။ ၁

فَلَمَّا جَاوَزَا قَالَ لِفَتٰىهُ اٰتِنَا غَدَآءَنَا لَقَدْ لَقِيْنَا مِنْ سَفَرِنَا هٰذَا نَصَبًا ﴿٦٢﴾

၆၂။ တစ်ဖန် ယင်း(မူစာနှင့် နောက်ပါတပည့်)နှစ်ဦးသည် (ယင်းမြစ်နှစ်သွယ်ဆုံရာမှ) ရှေ့သို့ကျော်လွန်လာခဲ့ကြသောအခါ ထိုမူစာက မိမိ နောက်ပါတပည့်အား နံနက်စာကို ကျွန်ုပ်ထံ ယူခဲ့လော့၊ စေန်မလွဲ ကျွန်ုပ်တို့သည် မိမိတို့၏ ဤခရီးကြောင့် မောပန်းကြရချေပြီဟု ပြောဆိုခဲ့လေသည်။

---

>> ပူးပေါင်းသည်မရှိ၊ သို့မျက်မြင်အားဖြင့် ပူးပေါင်းခြင်းမရှိသော်လည်း ဤယူချက်အရ "ဆုံစီးခြင်း"ဟူသည် နီးစပ်ခြင်းကို ဆိုလိုပေမည်၊ ဆုံစီးရာနေရာဟူသည် ပင်လယ်အချင်းချင်း အလွန်နီးစပ်ရာနေရာကို ဆိုလိုပေမည်။

အကယ်၍ ဤအဖြစ်အပျက်သည် ဆီနှ ကျွန်းဆွယ်တွင် ဖြစ်ပေါ်ခဲ့ပါက၊ ပင်လယ်နီ၏ မြောက်ဘက်စွန်းရှိ (Aquabah)ကွေ့နှင့် (Suez)ကွေ့ကို ဆိုလိုနိုင်သည်ဟူလည်း ဆိုကြသည်။ ဤအဆိုသည် ပို၍ တိကျမှန်ကန်သည် ဟုယူဆရသည်။ မာဂျီဒီ။

① **ငါးပျောက်။**

တမန်တော်မူစာသည် ဖွဲသတ္တိကြီးမားစွာဖြင့် ခရီးသွားနေခဲ့၏။ တစ်နေ့သော် ဆရာတပည့် နှစ်ဦးစလုံးတို့သည် တစ်နေရာတွင် ကျောက်ဆောင်ကြီးတစ်ခု၏အနီး၌ အိပ်ကြလေသည်၊ ထိုကျောက်ဆောင်ကြီးအောက်တွင် "အာဗေဟယာတ်" ရှင်စေသောရေရှိ၏။ တမန်တော်မူစာသည် အိပ်စက်လျက်ပင် ရှိသေး၏။ ယူရှအ်သည် နိုးနေခဲ့၏။ ထိုအချိန်တွင် ငါးကြော်သည် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ဖြင့် ပြန်လည်ရှင်လာပြီး လွယ်အိတ်အတွင်းမှ ထွက်၍ ရေထဲသို့ အံ့ဖွယ်သူရဲ ဆင်းသက်သွားလေသည်။ ရေထဲတွင် ငါးသွားသည့်နေရာ၌ လိုဏ်ခေါင်းဖြစ်နေခဲ့လေသည်။ ဤသည့်အချင်း အရာအားလုံးကို ယူရှအ်သည် ကောင်းစွာ တွေ့မြင်လိုက်ရလေသည်။

တမန်တော်မူစာ အိပ်ရာမှနိုးသောအခါ ဆရာတပည့်နှစ်ဦးစလုံးတို့သည် ဆက်လက်၍ ခရီးထွက်ကြပြန်လေသည်၊ ယူရှအ်လည်း ငါးအကြောင်း ပြောပြရန် မေ့သွားခဲ့လေသည်။

နောက်တစ်နေ့တွင် တမန်တော်မူစာက ယူရှအ်အား "ခရီးပန်းသည်၊ ဆာပြီ၊ ငါးကြော်ထုတ်ခဲ့" ဟု ပြော၏။ ထိုအခါ ယူရှအ်က "ကျွန်တော်တို့ မနေ့က ကျောက်ဆောင်ကြီး တစ်ခုအနီးတွင် အိပ်စက်ခဲ့ကြသည်၊ တမန်တော် အိပ်စက်လျက်ရှိနေစဉ် ကျွန်တော်နိုးနေပါသည်၊ ထိုအချိန်တွင် ငါးကြော်သည် ပြန်လည် >>

قَالَ أَرَءَيۡتَ إِذۡ أَوَيۡنَآ إِلَى
ٱلصَّخۡرَةِ فَإِنِّي نَسِيتُ
ٱلۡحُوتَ وَمَآ أَنسَىٰنِيهُ
إِلَّا ٱلشَّيۡطَٰنُ أَنۡ أَذۡكُرَهُۥۚ
وَٱتَّخَذَ سَبِيلَهُۥ فِي
ٱلۡبَحۡرِ عَجَبٗا ٦٣

၆၃။ (ထိုအခါ) ယင်းနောက်ပါတပည့်က (ဤသို့) ပြောဆို ဖြေကြားခဲ့လေသည်။ ကျွန်ုပ်တို့သည် ကျောက်ဆောင်၏အနီးတွင် နားခဲ့ကြသည်ကို (ကိုယ်တော်) သတိရပါလိမ့်မည်။ ထိုအခါ ကျွန်ုပ်သည် ဧကန်မလွဲ ငါး(၏ ထူးဆန်းအံ့ဖွယ်သောအကြောင်း)ကို ကိုယ်တော်အား ပြောပြရန်မေ့သွားခဲ့ပါသည်။ အမှန်သော်ကား ကျွန်ုပ်အား ယင်း(အကြောင်း)ကို သတိမရနိုင်ရန် ရှိုင်တွာန်မိစ္ဆာကောင်ကသာလျှင် မေ့လျော့စေခဲ့ပါသည်။ စင်စစ် ယင်းငါးသည် မြစ်ထဲတွင် မိမိလမ်းကို ထူးဆန်းအံ့သြစွာ ပြုလုပ်၍ သွားခဲ့ပါသည်။

قَالَ ذَٰلِكَ مَا كُنَّا نَبۡغِۚ فَٱرۡتَدَّا
عَلَىٰٓ ءَاثَارِهِمَا قَصَصٗا ٦٤

၆၄။ (ထိုအခါ) ယင်းမူစာက ထို(နေရာ)သည်ပင် ကျွန်ုပ်တို့ ရှာဖွေနေသော(နေရာ)ဖြစ်သည်ဟု ပြောဆိုခဲ့လေသည်။ ထို့နောက် ၎င်းတို့နှစ်ဦးစလုံးသည် မိမိတို့ ခြေရာများပေါ်၌ ခြေထပ်၍ နောက်သို့ ပြန်ခဲ့ကြလေသည်။

فَوَجَدَا عَبۡدٗا مِّنۡ عِبَادِنَآ
ءَاتَيۡنَٰهُ رَحۡمَةٗ مِّنۡ عِندِنَا
وَعَلَّمۡنَٰهُ مِن لَّدُنَّا عِلۡمٗا ٦٥

၆၅။ ထိုအခါ ထိုနှစ်ဦးသည် ငါအရှင်မြတ်၏ ကျွန်များအနက် ကျွန်တစ်ပါးကို တွေ့ရှိကြလေသည်။ ငါအရှင်မြတ်သည် ထိုကျွန်အား မိမိအထံတော်မှ အထူးကျေးဇူးတော်တစ်ရပ်ကို ချီးမြှင့် ပေးသနားတော်မူခဲ့၏။ ၎င်းပြင် ငါအရှင်မြတ်သည် (အထူး)ပညာတစ်ရပ်ကိုလည်း ထိုကျွန်အား သင်ကြား၍ ပေးတော်မူခဲ့လေသတည်း။

➤➤ ရှင်သွားပြီး ရေထဲသို့ အံ့ဖွယ်သရဲ ဆင်းသွားသည်၊ ရေထဲတွင် ငါးဝင်သွားသည့် နေရာ၌လည်း အံ့ဖွယ်သရဲ လိုဏ်ခေါင်းဖြစ်နေခဲ့ပါသည်" ဟု ပြောပြလေသည်၊ တမန်တော်မူစာက "ငါတို့ရှာနေသောနေရာသည် အခြားမဟုတ်၊ အဆိုပါ ငါးပျောက်သည့် နေရာပင်ဖြစ်သည်"ဟုပြော၏။ ထို့နောက် ဆရာတပည့်နှစ်ဦးစလုံးတို့သည် အဆိုပါ ငါးပျောက်သည့်နေရာသို့ ပြန်လာခဲ့ကြ၏။

قَالَ لَهُ مُوسَىٰ هَلْ أَتَّبِعُكَ عَلَىٰ أَن تُعَلِّمَنِ مِمَّا عُلِّمْتَ رُشْدًا ﴿٦٦﴾

၆၆။ မူစာသည် (ငါအရှင်မြတ်၏) ထိုကျွန်အား အသင်သည် မိမိသင်ကြားပို့ချခြင်းခံရသည့် ဆင်ခြင်တုံ တရားအနက်မှ ကျွန်ုပ်အားလည်း သင်ပေးပါရန် ကျွန်ုပ်အသင်နှင့်အတူ လိုက်နိုင်ပါသလောဟု ပြောဆို (မေတ္တာရပ်ခံ)ခဲ့လေ၏။

قَالَ إِنَّكَ لَن تَسْتَطِيعَ مَعِيَ صَبْرًا ﴿٦٧﴾

၆၇။ ၎င်းက ဧကန်အမှန် အသင်သည် ကျွန်ုပ်နှင့် အတူ အလျင်း သည်းခံ(၍နေ)နိုင်မည် မဟုတ်ဟု ပြောဆိုဖြေကြားခဲ့လေသည်။

وَكَيْفَ تَصْبِرُ عَلَىٰ مَا لَمْ تُحِطْ بِهِ خُبْرًا ﴿٦٨﴾

၆၈။ စင်စစ် အသင်သည် အသိပညာအားဖြင့် မိမိ မငုံမိသောကိစ္စနှင့်စပ်လျဉ်း၍ အသို့လျှင်သည်းခံ၍ နေနိုင်ပါအံ့နည်း။

قَالَ سَتَجِدُنِي إِن شَاءَ اللَّهُ صَابِرًا وَلَا أَعْصِي لَكَ أَمْرًا ﴿٦٩﴾

၆၉။ (ထိုအခါ) ယင်းမူစာက အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူပါလျှင် အသင်သည် ကျွန်ုပ်အား သည်းခံသူတစ်ဦးဖြစ်သည်ကို တွေ့ရှိပါလိမ့်မည်။ ထို့မှတစ်ပါး ကျွန်ုပ်သည် အသင်၏ မည်သည့် အမိန့်ကိုမျှပင် သွေဖည်မည် မဟုတ်ပါဟု ပြောဆိုခဲ့လေသည်။

قَالَ فَإِنِ اتَّبَعْتَنِي فَلَا تَسْأَلْنِي عَن شَيْءٍ حَتَّىٰ أُحْدِثَ لَكَ مِنْهُ ذِكْرًا ﴿٧٠﴾

၇၀။ ၎င်းက (ဤသို့)ပြောကြားခဲ့၏။ အကယ်၍ အသင်သည် ကျွန်ုပ်နှင့်အတူ လိုက်ခဲ့ပါလျှင် အသင်သည် ကျွန်ုပ်အား မည်သည့်အရာနှင့်မျှစပ်လျဉ်း၍ ကျွန်ုပ်ကိုယ်တိုင် အသင့်အား ထိုအရာကို စတင်ပြောဆိုရှင်းလင်းခြင်း မပြုသမျှကာလပတ်လုံး မေးမြန်းခြင်းကို မပြုပါနှင့်။ ၁

(၁) **ခိဇ္ဇ်ရ်နှင့် တမန်တော်မူစာတွေ့ခြင်း။**

တမန်တော်မူစာသည် မိမိ၏တပည့်နှင့်အတူ ငါးပျောက်သည့်ဌာနသို့ ပြန်လည်ရောက်ရှိလာခဲ့ကြသည့်အခါ၊ အဆိုပါနေရာတွင် ဝတ်ဖြူစင်ကြယ်ဝတ်ဆင်ထားသော ပုဂ္ဂိုလ်တစ်ဦးအား တွေ့မြင်၏။ ထိုပုဂ္ဂိုလ်မှာ ခိဇ္ဇ်ရ်(အလိုင်ဟစ္စလာမ်)ပင်ဖြစ်၏။ ➢➢

فَانْطَلَقَا ۗ حَتّٰىٓ اِذَا رَكِبَا فِى السَّفِيْنَةِ خَرَقَهَا ۗ قَالَ اَخَرَقْتَهَا لِتُغْرِقَ اَهْلَهَا ۚ لَقَدْ جِئْتَ شَيْـًٔا اِمْرًا ﴿٧١﴾

၇၁။ ထို့နောက် ၎င်း(မူစာနှင့်ခိသ္ဍ်ရ်)တို့နှစ်ဦးသည် လျှောက်သွားကြပြီး နောက်ဆုံးတွင် ၎င်းတို့နှစ်ဦးသည် ရွက်သင်္ဘောပေါ်သို့ စီးနင်းကြသောအခါ ယင်း(ခိသ္ဍ်ရ်) သည် ထိုရွက်သင်္ဘောကို ဖောက်ခဲ့လေသည်။ (ထိုအခါ) ယင်း(မူစာ)က (ဤသို့)ပြောဆိုခဲ့လေသည်။ အသင် သည် ဤသင်္ဘောကို သင်္ဘောပေါ်၌ ပါရှိသောသူတို့အား နစ်မြုပ်စေအံ့သောငှာ ဖောက်ခဲ့လေသလော။ စင်စစ်မလွဲ အသင်သည် အလွန်ဆိုးရွားသော အပြုအမူတစ်ရပ်ကို ပြုလုပ်ခဲ့ချေပြီတကား။

قَالَ اَلَمْ اَقُلْ اِنَّكَ لَنْ تَسْتَطِيْعَ مَعِىَ صَبْرًا ﴿٧٢﴾

၇၂။ ယင်း (ခိသ္ဍ်ရ်) က (ဤသို့) ပြောဆိုခဲ့လေ၏။ (အချင်းမူစာ)စင်စစ်အမှန် အသင်သည် ကျွန်ုပ်နှင့်အတူ အလျင်း သည်းခံ၍ နေနိုင်မည်မဟုတ်ကြောင်း ကျွန်ုပ် ပြောကြားခဲ့သည် မဟုတ်ပါလော။

---

➤➤ တမန်တော်မူစာသည် ခိသ္ဍ်ရ်(အလိုင်ဟစ္စလာမ်)အား "စလာမ်"ပေး၏။ ခိသ္ဍ်ရ်က "ဤဒေသတွင် စလာမ် အဘယ်မှာရှိသနည်း။" ဆိုလိုသည်ကား (ဤဒေသတွင်မွတ်စ်လင်မ်များမရှိပါ) ဟုပြောရာ၊ တမန်တော်မူစာက "ကျွန်တော်၏အမည်မှာမူစာဖြစ်ပါသည်" ဟု ပြောပြ၏။ ခိသ္ဍ်ရ်က အသင်သည် အီစ်ရာအီလီမျိုးနွယ်ထံသို့ စေလွှတ်ခြင်းခံရသော တမန်တော်မူစာဖြစ်ပါသလော" ဟုမေးရာ၊ တမန်တော်မူစာက "မှန်ပါသည်"ဟုပြော၏။

ထို့နောက် တမန်တော်မူစာက "ကျွန်ုပ်သည် အသင့်ထံ၌ချဉ်းကပ်၍ အလ္လာဟ်အရှင်မြတ်က သင့်အား အထူးတလည် ချီးမြှင့်ထားတော်မူသော ပညာကို ဆည်းပူးရန်ရောက်ရှိလာခဲ့ခြင်း ဖြစ်ပါသည်ဟု ပြောပြရာ၊ ခိသ္ဍ်ရ်က "အသင်သည် ကျွန်ုပ်နှင့်အတူ နေထိုင်၍ ကျွန်ုပ်၏ ဆောင်ရွက်ချက်များကို အလျင်းသည်းခံနိုင်မည်မဟုတ်၊ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်အား "အစ်လ်မေ့တာကွီနီ" (စတင်ဖန်ဆင်းခြင်းဆိုင်ရာ) ပညာကို ချီးမြှင့်ထားတော်မူသည်။ အသင့်အား "အစ်လီမေ့တရှ်ရီအီ" (တရားဥပဒေဆိုင်ရာ) ပညာကို ချီးမြှင့် ထားတော်မူသည်၊ အသင့်၌ရှိသောပညာသည် ကျွန်ုပ်၌မရှိ၊ ကျွန်ုပ်၌ရှိသောပညာသည် အသင့်၌မရှိ" ဟုပြော၏။

တမန်တော်မူစာက"အင်န်ရှာအလ္လာဟ် ကျွန်ုပ်သည်းခံပါမည်၊ ကျွန်ုပ်သည်အသင့်အား ဆန့်ကျင်မည်မ ဟုတ်ပါ" ဟုပြော၏။ ခိသ္ဍ်ရ်က "သို့ဖြစ်လျှင် အသင်သည် ကျွန်ုပ်နှင့်အတူ နေထိုင်စဉ် ကျွန်ုပ်၏ အချို့အပြုအမူများကို တွေ့ရမည်၊ ထိုသည့်ပြုမူချက်များနှင့်စပ်လျဉ်း၍ ကျွန်ုပ်ကိုယ်တိုင်က ပြောမပြသမျှ ကာလပတ်လုံး အသင်သည် ကျွန်ုပ်အား တစ်စုံတစ်ရာ မမေးရ၊ ဤစည်းကမ်းချက်ကို လိုက်နာနိုင်ပါက အသင် ကျွန်ုပ်ထံတွင် နေနိုင်ပါသည်"ဟု ပြော၏။ တမန်တော်မူစာက "ကောင်းပါပြီ (အင်န်ရှာအလ္လာဟ်)ကျွန်တော် ဤစည်းကမ်းချက်ကို တတ်စွမ်းနိုင်သမျှ လိုက်နာပါမည်" ဟု ပြောကြားလိုက်လေသည်။

قَالَ لَا تُؤَاخِذْنِي بِمَا نَسِيتُ وَلَا تُرْهِقْنِي مِنْ أَمْرِي عُسْرًا ﴿٧٣﴾

၇၃။ ယင်း(မူစာက) အသင်သည် ကျွန်ုပ် မေ့လျော့ခဲ့သော ကိစ္စနှင့်စပ်လျဉ်း၍ ကျွန်ုပ်အား အရေးမယူပါလေနှင့်၊ ၎င်းပြင် အသင်သည် ကျွန်ုပ်၏ (ဤ) ကိစ္စတွင် ကျွန်ုပ်အပေါ်၌ ကျပ်တည်းမှုမပြုပါနှင့်ဟု ပြောဆိုခဲ့လေသည်။

فَانْطَلَقَا حَتَّىٰ إِذَا لَقِيَا غُلَامًا فَقَتَلَهُ قَالَ أَقَتَلْتَ نَفْسًا زَكِيَّةً بِغَيْرِ نَفْسٍ لَقَدْ جِئْتَ شَيْئًا نُكْرًا ﴿٧٤﴾

၇၄။ ထိုနောက် တစ်ဖန် ၎င်း(မူစာနှင့်ခိသ္ခ်ရ်)တို့ နှစ်ဦးသည် (ရှေ့သို့ဆက်လက်၍ လျှောက်သွားခဲ့ကြပြန်ရာ သူငယ်တစ်ယောက်ကို တွေ့ကြသောအခါ ယင်း(ခိသ္ခ်ရ်)က ထိုသူငယ်အား သတ်ဖြတ်ခဲ့လေ၏။ (ဤသည်တွင်) ထို(မူစာ)က (အချင်း ခိသ္ခ်ရ်) အသင်သည် သန့်စင်သော အသက်တစ်ချောင်းကို မည်သည့် အသက်တစ်ချောင်း(၏ သက်စားသတ်ခြင်း)မျှ မဟုတ်ဘဲ (မတရားသဖြင့်) သတ်ဖြတ်ခဲ့လေသလော၊ စင်စစ်မလွဲ အသင်သည် အလွန့်အလွန် ဆိုးရွားလှသော အမှုတစ်ရပ်ကို ကျူးလွန်ပြုလုပ်ခဲ့ချေပြီတကား ဟု ပြောဆိုခဲ့လေသတည်း။ [၁]

---

(၁) **ခိသ္ခ်ရ်နှင့် တမန်တော်မူစာ ခရီးအတူထွက်ခြင်း။**

ခိသ္ခ်ရ်(အလိုင်ဟစ္စလာမ်)နှင့်တမန်တော်မူစာသည် အတူတူ စတင်ခရီးထွက်ခဲ့ကြ၏။ သမုဒ္ဒရာပင်လယ်ကမ်းခြေသို့ ရောက်သောအခါ၊ လှေတစ်စင်းကို တွေ့မြင်ကြ၏။ ခိသ္ခ်ရ်လှေသမားများအား လှေခပေး၏။ လှေသမားများသည် ခိသ္ခ်ရ်အား သိကြ၏။ ထို့အတွက် လှေခမယူဘဲ တင်ဆောင်သွား၏။ ခရီးအတန်ရောက်သောအခါ ခိသ္ခ်ရ်(အလိုင်ဟစ္စလာမ်)သည် လှေဦးပိုင်းရှိ ပျဉ်ပြားတစ်ချပ်ကို လှန်၍ လှေတွင် အပေါက်ဖောက်လိုက်၏။

ထိုအခါ တမန်တော်မူစာက ခိသ္ခ်ရ်အား "ဤလှေသမားသည် ကျွန်ုပ်တို့အား လှေခပင်မယူဘဲ ကောင်းစွာ တင်ဆောင်လာခဲ့ကြသည်၊ အသင်သည် ဤသို့သော လှေသမားများ၏ လှေတွင် အကြောင်းမဲ့ အပေါက် ဖောက်လိုက်သည်။ အားလုံး ရေနစ်ကြလိမ့်မည်၊ ဤသို့မလုပ်အပ်ပါ" ဟု ပြော၏။

ခိသ္ခ်ရ်က "အသင်သည် ကျွန်ုပ်၏ ပြုမူချက်များကို အလျင်းသည်းခံနိုင်မည် မဟုတ်ဟု ကျွန်ုပ်ယခင်ကပင် ပြောခဲ့သည် မဟုတ်ပါလော၊ ယခု ကျွန်ုပ်ပြောခဲ့သည့်အတိုင်းဖြစ်ပြီ" ဟုပြော၏။ ထိုအခါ တမန်တော်မူစာက "ကျွန်တော် ထိုစကားကို လုံးဝမေ့သွားခဲ့ပါသည်၊ ကျွန်တော်၏ မေ့မှားမှုကို ခွင့်လွှတ်ပါ၊ ➤➤

➢➢ ကျွန်တော့်အရေးကိစ္စတွင် ကျပ်တည်းစွာမပြုလုပ်ပါနှင့်” ဟု မေတ္တာရပ်ခံ၏။

ထိုအခိုက်တွင် ငှက်ကလေးတစ်ကောင်သည် လှေအစွန်းတွင် လာနားလိုက်၏။ ထိုနောက် မိမိ၏ သေးငယ်သော နှုတ်သီးကလေးဖြင့် ပင်လယ်ရေပြင်ကြီးမှ ရေတစ်စက်သောက်၏။ ထိုအခါ ခိဇ္ဇ်ရ်က “ဤငှက်ကလေး သောက်လိုက်သော ရေတစ်စက်သည် ဤသမုဒ္ဒရာရေထုကြီးရှေ့မှောက်တွင် အသို့မျှ တန်ဘိုးမရှိသကဲ့သို့ ကျွန်ုပ်နှင့် အသင်၏ပညာသည်လည်း အလုံးစုံသိတော်မူသော အလ္လာဟ်အရှင်မြတ်၏ ဉာဏ်တော်ရှေ့မှောက်တွင် အလျင်းတန်ဖိုးမရှိပါ”ဟု ပြောပြ၏။

လှေသည် ကမ်းခြေသို့ ကောင်းစွာဆိုက်ကပ်၏။ ခိဇ္ဇ်ရ်နှင့် တမန်တော်မူစာသည် ဆက်လက်၍ ခရီးသွားကြပြန်၏။ ကွင်းပြင်တစ်ခုတွင် ကစားနေကြသော အချို့ကလေးများကို တွေ့မြင်ကြ၏။ ခိဇ္ဇ်ရ်သည် ယင်းကလေးများအနက် ကလေးတစ်ယောက်အား သတ်ပစ်လိုက်၏။ ထိုအခါ တမန်တော်မူစာသည် မိမိ၏ စိတ်ကို မချုပ်တီးနိုင်တော့ဘဲ “အသင်သည် အပြစ်မဲ့ကလေး တစ်ယောက်ကို သတ်လိုက်သည်၊ အသင် အလွန် ဆိုးရွားသောအမှုကို ကျူးလွန်ပြီ”ဟု ပြော၏။

ခိဇ္ဇ်ရ်က“အသင်သည် ကျွန်ုပ်၏အပြုအမူများကို အလျင်းသည်းခံနိုင်မည်မဟုတ်ဟု ကျွန်ုပ် ယခင်ကပင် ပြောခဲ့ပြီးမဟုတ်ပါလော၊ ယခုတစ်ဖန် စည်းကမ်းပျက်ပြန်ပြီ” ဟု ပြော၏။ ထိုအခါ တမန်တော်မူစာက “ကျွန်တော့်အား ဤတစ်ကြိမ်တွင်လည်း ခွင့်လွှတ်ပါ၊ နောက်တစ်ကြိမ် ကျွန်တော်စည်းကမ်းပျက်ပါက ကျွန်တော့်အား ထောက်ထားရန် အကြောင်း မရှိတော့ပါ၊ ကျွန်တော့်အား ခွဲခွာနိုင်ပါသည်” ဟု ထပ်မံမေတ္တာရပ်ခံ၏။

قَالَ اَلَمۡ اَقُلۡ لَّكَ اِنَّكَ لَنۡ تَسۡتَطِيۡعَ مَعِىَ صَبۡرًا ﴿۷۵﴾

၇၅။ ၎င်း(ခိသ္ခ်ရ်)က (ဤသို့) ပြောဆိုခဲ့ပြန်၏။ (အချင်း-မူစာ) ကေန်အမှန် အသင်သည် ကျွန်ုပ်တို့နှင့်အတူ အလျှင်း သည်းခံ၍ နေနိုင်မည်မဟုတ်ကြောင်း ကျွန်ုပ်အသင်အား ပြောကြားခဲ့သည်မဟုတ်ပါလော။

قَالَ اِنۡ سَاَلۡتُكَ عَنۡ شَىۡءٍۢ بَعۡدَهَا فَلَا تُصٰحِبۡنِىۡ ۚ قَدۡ بَلَغۡتَ مِنۡ لَّدُنِّىۡ عُذۡرًا ﴿۷۶﴾

၇၆။ ယင်း(မူစာ)က (အချင်း-ခိသ္ခ်ရ်) အကယ်၍ ကျွန်ုပ်သည် ဤသည့်နောက်တွင် အသင်အား တစ်စုံတစ်ရာနှင့်စပ်လျဉ်း၍ မေးမြန်းခဲ့ပါလျှင် အသင်သည် ကျွန်ုပ်အား (မိမိနှင့်)အတူ မထားပါနှင့်၊ ကေန်မလွဲ အသင်သည် ကျွန်ုပ်ထံမှ ခွင့်လွှတ်ရန်အကြောင်းပြချက်(၏အဆုံးစွန်)သို့ ရောက်ခဲ့ချေပြီဟု ပြောဆိုခဲ့၏။

فَانۡطَلَقَا حَتّٰٓى اِذَاۤ اَتَيَاۤ اَهۡلَ قَرۡيَةِ ۨاسۡتَطۡعَمَاۤ اَهۡلَهَا فَاَبَوۡا اَنۡ يُّضَيِّفُوۡهُمَا فَوَجَدَا فِيۡهَا جِدَارًا يُّرِيۡدُ اَنۡ يَّنۡقَضَّ فَاَقَامَهٗ ؕ قَالَ لَوۡ شِئۡتَ لَـتَّخَذۡتَ عَلَيۡهِ اَجۡرًا ﴿۷۷﴾

၇၇။ တစ်ဖန် ၎င်းတို့နှစ်ဦးသည် (ရှေ့သို့ဆက်လက်၍) လျှောက်သွားခဲ့ကြပြန်ရာ မြို့တစ်မြို့မှ မြို့သားတို့ထံ ရောက်လာခဲ့ကြသောအခါ ၎င်းတို့နှစ်ဦးက ယင်းမြို့သားတို့ထံ (ဧည့်ခံကျွေးမွေးရန်မေတ္တာရပ်ခဲ့ကြ၏။) ထိုအခါ ယင်းမြို့သားတို့က ၎င်းတို့နှစ်ဦးအား ဧည့်ခံ(ကျွေးမွေး)ခြင်းကို ငြင်းပယ်ခဲ့ကြလေသည်။ ထို့နောက် ၎င်းတို့နှစ်ဦးသည် ထိုမြို့တွင်း၌ တံတိုင်းတစ်ခုကိုတွေ့ရှိခဲ့ကြ၏။ ထိုတံတိုင်းမှာ ပြိုကျအံ့ဆဲဆဲဖြစ်နေလေရာ ယင်း(ခိသ္ခ်ရ်)က ထိုတံတိုင်းကို ဖြောင့်မတ်စွာ ရပ်တည်စေခဲ့လေသည်။

(ထိုအခါ) ယင်း(မူစာ)က (အချင်း-ခိသ္ခ်ရ်) အကယ်၍ အသင်သည် အလိုရှိခဲ့ပါမူ ဤ(တံတိုင်းတည့်မတ်ပေးရေး)နှင့်စပ်လျဉ်း၍ အမှန်ပင် လုပ်ခကို ယူနိုင်ခဲ့ပေသည်ဟု ပြောဆိုခဲ့လေသည်။

قَالَ هٰذَا فِرَاقُ بَيۡنِىۡ وَبَيۡنِكَ ۚ

၇၈။ (ထိုအခါ) ယင်း(ခိသ္ခ်ရ်)က (အချင်း-မူစာ၊) ဤသည်ကား အသင်နှင့်ကျွန်ုပ် ခွဲခွာရန်(အချိန်)ပင်တည်း။

سَأُنَبِّئُكَ بِتَأْوِيلِ مَا لَمْ تَسْتَطِع عَّلَيْهِ صَبْرًا ﴿٧٨﴾

ယခုသော်ကား ကျွန်ုပ်သည် အသင် သည်းမခံနိုင်ခဲ့သောကိစ္စနှင့်စပ်လျဉ်း၍ အဖြစ်မှန်ကို အသင့်အား သိစေပါတော့မည်ဟုပြောဆိုခဲ့လေသတည်း။ ၁

أَمَّا السَّفِينَةُ فَكَانَتْ لِمَسَاكِينَ يَعْمَلُونَ فِي الْبَحْرِ فَأَرَدتُّ أَنْ أَعِيبَهَا وَكَانَ وَرَاءَهُم مَّلِكٌ يَأْخُذُ كُلَّ سَفِينَةٍ غَصْبًا ﴿٧٩﴾

၇၉။ စင်စစ် ထိုရွက်သင်္ဘောကား မြစ်ထဲတွင် လုပ်ကိုင်(စားသောက်)ကြရရှာသော သူဆင်းရဲများ၏ ရွက်သင်္ဘောပင် ဖြစ်ခဲ့ပေရာ ကျွန်ုပ်သည် ယင်းရွက်သင်္ဘော၌ အပြစ်အနာအဆာရှိစေရန် ရည်ရွယ်ခဲ့ပေသည်။ အကြောင်းသော်ကား ၎င်းတို့(ရောက်ရှိကြမည့်) ရှေ့(စခန်း)တွင် ဘုရင်တစ်ပါးရှိသည်။ ထိုဘုရင်သည် (အပြစ်အနာအဆာကင်းသော) ရွက်သင်္ဘောမှန်သမျှကို အဓမ္မနည်းနှင့် လုယူ သိမ်းပိုက်လေ့ရှိသောကြောင့်ပင်တည်း။

---

(၁) ထို့နောက် ခိဇ္ဇ်ရ်နှင့် တမန်တော်မူစာသည် ဆက်လက် ခရီးထွက်ခဲ့ကြပြန်၏။ အတန်ကြာသော် ရွာတစ်ရွာသို့ ရောက်ရှိလာခဲ့ကြ၏။ ထိုရွာသားများသည် အေးချမ်းသာယာစွာ နေထိုင်လျက်ရှိကြ၏။ ကောင်းစွာ စားသောက်လျက် ရှိကြ၏။ ဧည့်သည် အာဂန္တုများအား ကောင်းစွာ ဧည့်ခံကျွေးမွေးနိုင်ကြ၏။

ခိဇ္ဇ်ရ်နှင့် တမန်တော်မူစာက ထိုရွာသားများထံ မိမိတို့သည် ဧည့်သည်အာဂန္တုများဖြစ်ကြောင်း၊ မိမိတို့အား ဧည့်ခံကျွေးမွေးကြပါမည့်အကြောင်း မေတ္တာရပ်ခံခဲ့ကြ၏။ သို့မေတ္တာရပ်ခံကြသော်လည်း ထိုရွာသားများသည် ရိုင်းပြစွာဖြင့် ဧည့်ခံကျွေးမွေးခြင်းကိစ္စကို ငြင်းပယ်ခဲ့ကြ၏။ လူမဆန်ခဲ့ကြပေ။ ခိဇ္ဇ်ရ်နှင့် တမန်တော်မူစာသည် သည်းခံခဲ့ကြ၏။

ထိုရွာအတွင်း သွားလာနေခိုက် ခိဇ္ဇ်ရ်သည် မြေသို့ပြိုအံ့ဆဲဆဲ ဖြစ်နေသော အုတ်နံရံတစ်ခုကို တွေ့မြင်ရာ၊ ထိုနံရံကို မိမိလက်ဖြင့် ကောင်းမွန်စွာ စနစ်တကျ တည့်မတ်ပေးလိုက်၏။

ထိုအခါ တမန်တော်မူစာသည် ခိဇ္ဇ်ရ်အား "ကျွန်ုပ်တို့သည် ဤရွာသားများထံသို့ ခရီးသည်များအဖြစ်နှင့် ရောက်ရှိလာခဲ့ကြပါသည်။ ဤရွာသားများထံ ဧည့်ခံကျွေးမွေးရန် မေတ္တာရပ်ခံခဲ့ကြပါသည်။ သို့ရာတွင် ဤရွာသားများသည် ကျွန်ုပ်တို့အား ဧည့်ခံကျွေးမွေးခြင်းလည်း မပြုခဲ့ကြပေ၊ နေရာထိုင်ခင်းလည်း မပေးခဲ့ကြပေ။

ဤသို့ရိုင်းပြသော၊ လူမဆန်သော ရွာသားတစ်ဦး၏ ပြိုလဲအံ့ဆဲဆဲ အုတ်နံရံကို အခကြေးငွေမယူဘဲ အသို့ကြောင့် တည့်မတ်ပေးလိုက်သနည်း-။ တည့်မတ်ပေးပါက အခကြေးငွေ ယူသင့်ပါသည်"ဟု ဆို၏။

ထိုအခါ ခိဇ္ဇ်ရ်က "ကျွန်ုပ်တို့သည် တစ်ဦးနှင့်တစ်ဦး လမ်းခွဲကြရန် အချိန်ရောက်ပြီ၊ အသင်သည် ယခင်က ကျွန်ုပ်ပြောဆိုခဲ့သည့်အတိုင်း သည်းမခံနိုင်ပြီ၊ ဆက်လက် အတူနေထိုင်ရန် မဖြစ်တော့ပြီ၊ ထို့အတွက် တစ်ဦးနှင့်တစ်ဦး လမ်းမခွဲမီ အသင်သည်းမခံနိုင်ခဲ့သည့် ကိစ္စများနှင့် စပ်လျဉ်း၍ ကြောင်းရင်းမှန်များကို ပြောပြလိုက်ပါမည်" ဟုပြော၍ အောက်ပါအတိုင်း ပြောပြလိုက်လေသည်။

وَأَمَّا الْغُلَٰمُ فَكَانَ أَبَوَاهُ مُؤْمِنَيْنِ فَخَشِينَا أَن يُرْهِقَهُمَا طُغْيَٰنًا وَكُفْرًا ﴿٨٠﴾

၈၀။ ၎င်းပြင် ထိုသူငယ်ကား ၎င်း၏မိဘနှစ်ပါးမှာ မုအ်မင်န် သက်ဝင်ယုံကြည်သူများ ဖြစ်ခဲ့ကြရာ ယင်းသူငယ်သည် (မိမိ)၏ ဆိုးသွမ်းမှုဖြင့်လည်းကောင်း၊ သွေဖည်မှုဖြင့်လည်းကောင်း၊ ထိုမိဘနှစ်ပါးအား ဖိစီးလွှမ်းမိုးမည်ကို ကျွန်ုပ်သိရှိခဲ့ပေသည်။

فَأَرَدْنَا أَن يُبْدِلَهُمَا رَبُّهُمَا خَيْرًا مِّنْهُ زَكَوٰةً وَأَقْرَبَ رُحْمًا ﴿٨١﴾

၈၁။ သို့ဖြစ်ပေရာ ၎င်းတို့နှစ်ဦးအား ၎င်းတို့၏ အရှင်မြတ်က ထိုသူငယ်ထက် (အကျင့်စာရိတ္တ) စင်ကြယ်သန့်ရှင်းရာတွင် ပိုမိုကောင်းမြတ်၍ (မိဘနှစ်ပါးအား) ချစ်ခင်မြတ်နိုး သဂြိုဟ်ထောက်ပံ့ရာတွင်လည်း ပိုမိုထူးကဲသော (သားသမီးမျိုးကို) အစားပေးတော်မူရန် ကျွန်ုပ် ရည်ရွယ်ခဲ့ပေသတည်း။

وَأَمَّا الْجِدَارُ فَكَانَ لِغُلَٰمَيْنِ يَتِيمَيْنِ فِي الْمَدِينَةِ وَكَانَ تَحْتَهُ كَنزٌ لَّهُمَا وَكَانَ أَبُوهُمَا صَٰلِحًا فَأَرَادَ رَبُّكَ أَن يَبْلُغَا أَشُدَّهُمَا وَيَسْتَخْرِجَا كَنزَهُمَا رَحْمَةً مِّن رَّبِّكَ وَمَا فَعَلْتُهُ عَنْ أَمْرِي ذَٰلِكَ تَأْوِيلُ مَا لَمْ تَسْطِع عَّلَيْهِ صَبْرًا ﴿٨٢﴾

၈၂။ ထို့ပြင် ယင်းတံတိုင်းကား ထိုမြို့မှ မိဘမဲ့သူငယ်နှစ်ဦးတို့၏ တံတိုင်းပင်ဖြစ်ခဲ့ပေသည်။ ၎င်းပြင် ယင်းတံတိုင်း၏ အောက်တွင် ထိုသူငယ်နှစ်ဦးအဖို့ စုဆောင်းထားသော ဘဏ္ဍာပစ္စည်းသည် ရှိနေပေသည်။ ထိုမှတစ်ပါး ထိုသူငယ်နှစ်ဦး၏ဖခင်မှာလည်း သူမွန်သူမြတ်တစ်ပါးပင် ဖြစ်ခဲ့ပေရာ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ၎င်းတို့နှစ်ဦး မိမိတို့ လူလားမြောက်သောအရွယ်သို့ ရောက်ကြသော အခါ အသင်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ကရုဏာတော်အားဖြင့် မိမိတို့၏ဘဏ္ဍာပစ္စည်းကို ဖော်ထုတ်ယူကြရန် ရည်ရွယ်တော်မူခဲ့ပေသည်။

စင်စစ် ကျွန်ုပ်သည် ဤကိစ္စကို မိမိသဘောနှင့် ပြုလုပ်ခဲ့သည် မဟုတ်ပေ။ ဤသည် အသင် သည်းခံ၍ မနေနိုင်ခဲ့သောကိစ္စ၏အဖြစ်မှန်ပင်ဖြစ်ပေသည်တကား၊[၁]

(၁) **ခိဍ္ဍ်ရ်က အကြောင်းရင်းမှန်ကို ပြောပြခြင်း။**

(က) လှေမှာ သမုဒ္ဒရာပင်လယ်တွင် လုပ်ကိုင်စားသောက်နေကြသော ဆင်းရဲသားများ၏ ➤➤

➤➤ လှေဖြစ်သည်။ ယခု ၎င်းတို့သွားလာနေကြသောဒေသတွင် မင်းဆိုးတစ်ပါး ရှိသည်။ ထိုမင်းဆိုးသည် ကောင်းသော လှေများကို မတရားသဖြင့် အဓမ္မသိမ်းလေ့ရှိသည်။

ထိုမင်းဆိုးသည် အပြစ်အနာအဆာရှိသောလှေကို သိမ်းဆီးလေ့မရှိ၊ ထို့အတွက် ဤလှေတွင် အပေါက်ဖောက်လိုက်ခြင်း ဖြစ်သည်။ ဤသို့ဖြင့် ဆင်းရဲသား လှေပိုင်ရှင်တို့အား ကာကွယ်လိုက်ခြင်းဖြစ်သည်။

(ခ) ကလေးမှာ-၎င်း၏ မိဘနှစ်ပါးသည် မုအ်မင်န်များဖြစ်ကြသည်။ မိမိတို့၏ ကလေးကိုလည်း အသက်တမျှ ချစ်မြတ်နိုးကြသည်။ သို့ရာတွင် ဤကလေးသည် ကြီးပြင်းလာသည့်အခါ ကာဖိရ်ဖြစ်မည်၊ ဆိုးမိုက်မည်၊ မိမိ၏ ကာဖိရ်ဖြစ်မှု၊ သွေဖည်မှု၊ ဆိုးသွမ်းမှုများဖြင့် မိဘနှစ်ပါးတို့အား မှောက်မှားစေမည်ကို စိုးရိမ်ရသည်။

အလ္လာဟ်အရှင်မြတ်သည် ထိုမိဘနှစ်ပါးတို့အား ထိုသို့သော သားဆိုးအစား သာသနာကိုလေးစားသော၊ မိဘတို့အား ချစ်ခင်မြတ်နိုးသော သားလိမ္မာတစ်ယောက် ချီးမြှင့်တော်မူရန်အလို့ငှာ ထိုကလေးအား ယင်းသို့ သတ်လိုက်ခြင်းဖြစ်သည်။ ဤသို့ဖြင့် ထိုမိဘနှစ်ပါးတို့အား ကာကွယ်လိုက်ခြင်း ဖြစ်သည်။

(ဂ) နံရံကိစ္စမှာ- အဆိုပါ နံရံအောက်တွင် မိဘမဲ့ကလေးနှစ်ယောက်၏ ဘဏ္ဍာရှိသည်။ ထိုကလေးနှစ်ယောက်၏ဖခင်မှာ သူတော်ကောင်း တစ်ဦးဖြစ်သည်။ ထိုကလေးများ လူလားမြောက်သည့်အခါ မိမိတို့ပိုင်သော ဘဏ္ဍာပစ္စည်းများကို ကောင်းစွာ ထုတ်ဖော်ယူနိုင်ရန်အတွက် အဆိုပါအုတ်နံရံသည် မတ်တည်နေရန်လိုပေသည်။

ထိုအုတ်နံရံ ပြိုလဲသွားပါက ၎င်းအောက်တွင် မြှုပ်နှံထားသော ဘဏ္ဍာပစ္စည်းများသည် ပေါ်သွားပေမည်။ ပေါ်သွားပါက အဆိုပါ ရွာသားများသည် မတရား စားသုံးပစ်ကြပေမည်၊ အဆိုပါ ကလေးနှစ်ယောက်သည် လက်မဲ့ဖြစ်သွားကြပေမည်။

ထို့အတွက် ယင်းအုတ်နံရံကို တည့်မတ်ပေးလိုက်ခြင်းဖြစ်သည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ပင်။ ကျွန်ုပ် ဤသို့ပြုလုပ်ခြင်းမှာ မိမိဆန္ဒသဘောအရ မဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော် အရသာ ဖြစ်သည်။

ဤသည် အသင်(တမန်တော်မူစာ) သည်းမခံနိုင်သော ကိစ္စများနှင့်စပ်လျဉ်းသည့် အကြောင်းရင်းမှန်များ ဖြစ်သည်။

ဤအကြောင်းကို ကုရ်အာန် (၁၈း၇၉-၈၂)တွင် မိန့်ဆိုထားတော်မူသည်။

**မှတ်ချက်။**

(က) "ခိဒ္ဓ်ရ်"ဟူသော ပုဒ်သည် အမည်လော၊ ဘွဲ့လော-။ ဤတွင် အဆိုကွဲပြားလျက်ရှိသည်။ ကုရ်အာန်ကျမ်းမြတ်တွင် "ငါ၏ကျွန်များအနက် ကျွန်တစ်ယောက်" ဟူ၍သာပါရှိသည်။ အမည်နာမ အတိအကျ ဖော်ပြမိန့်ဆိုထားတော်မူသည် မရှိချေ။

ဗုခါရီ၊ မွတ်စ်လင်မ် စသည့် ဟဒီးဆ်သြဝါဒကျမ်းကြီးများတွင်သာလျှင်၊ ယင်းပုဂ္ဂိုလ်မွန်အား "ခိဒ္ဓ်ရ်" ဟူ၍သုံးနှုန်းထားသည်ကို တွေ့ရှိရသည်။ ခိဒ္ဓ်ရ်(အလိုင်ဟစ္စလာမ်)သည် တမန်တော်မူစာ (အလိုင်ဟစ္စလာမ်)နှင့် ခေတ်ပြိုင် ပုဂ္ဂိုလ်မွန်တစ်ပါး ဖြစ်သည်ဟု မှတ်ယူထားပါက ကျွန်ုပ်တို့အဖို့ လုံလောက်ပေသည်။

ခိဒ္ဓ်ရ်(အလိုင်ဟစ္စလာမ်)သည် ရစူလ်လော၊ နဗီလော၊ ဝလီလော။ ဤတွင်လည်း အဆိုကွဲပြားလျက် ရှိသည်။ အများပညာရှင်တို့၏ ယူဆချက်အရ "ခိဒ္ဓ်ရ်"သည် ရစူလ်လည်းမဟုတ်၊ ရိုးရိုးသူတော်စင်လည်းမဟုတ်၊ နဗီသာလျှင်ဖြစ်သည်။

وَيَسْـَٔلُونَكَ عَن ذِى ٱلْقَرْنَيْنِ ۖ قُلْ سَأَتْلُوا۟ عَلَيْكُم مِّنْهُ ذِكْرًا ﴿٨٣﴾

၈၃။ ထိုမှတစ်ပါး ၎င်း(ကုရိုက်ရှ်အမျိုးသား)တို့သည် ဇုလ်ကရ်နိုင်န် ^၁ နှင့်ပတ်သက်၍ အသင့်အား မေးမြန်းကြလေသည်။ (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား (အချင်းတို့၊) ငါသည် ယခုပင် ယင်း(ဇုလ်ကရ်နိုင်န်)၏ (အကြောင်းများ)အနက် အကြောင်းတစ်ခုကို အသင်တို့ရှေ့ဝယ် ပြန်၍ ပြောပြမည်ဟူ၍ ပြောကြားပါလေ။

إِنَّا مَكَّنَّا لَهُۥ فِى ٱلْأَرْضِ وَءَاتَيْنَـٰهُ مِن كُلِّ شَىْءٍ سَبَبًا ﴿٨٤﴾

၈၄။ ဧကန်မလွဲ ငါအရှင်မြတ်သည် ယင်းဇုလ်ကရ်နိုင်န်အား ကမ္ဘာမြေဝယ် အုပ်ချုပ်မှု အာဏာပေးတော်မူခဲ့၏။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ၎င်းအား အရာခပ်သိမ်းတို့အနက်မှ (လိုအပ်သော)ဥစ္စာပစ္စည်း လက်နက်ကိရိယာကို (တစ်နည်း) အရာခပ်သိမ်းတို့နှင့် စပ်လျဉ်း၍ နည်းလမ်းကို (တစ်နည်း) ဥစ္စာပစ္စည်း လက်နက်ကိရိယာ အမျိုးမျိုးကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။ ^၂

فَأَتْبَعَ سَبَبًا ﴿٨٥﴾

၈၅။ သို့ဖြစ်ပေရာ ယင်းဇုလ်ကရ်နိုင်န်သည် လမ်းတစ်ခုကို လိုက်ခဲ့လေသည်။

---

① **ဇုလ်ကရ်နိုင်န်။**

"ကရန်"၏အဓိပ္ပါယ်မှာ ဦးချို၊ အလက်၊ အစွန်း၊ အင်အား၊ စွမ်းရည်သတ္တိဟုဖြစ်၏။ "ကရ်နိုင်န်"သည် "ကရ်န်"၏ ဗဟုဝုစ်ကိန်းဖြစ်၏။ ဇုလ်ကရ်နိုင်န်၏အဓိပ္ပါယ်မှာ ဦးချိုနှစ်ခု၏ ပိုင်ရှင်၊ အစွန်းနှစ်ခု၏ပိုင်ရှင်၊ စွမ်းရည်သတ္တိရှိသူ၊ အားအင်ရှိသူဟုဖြစ်၏။

ဇုလ်ကရ်နိုင်န်သည် ကမ္ဘာ့အရှေ့စွန်း၊ အနောက်စွန်းများသို့ သွားရောက်လည်ပတ်နိုင်ခဲ့၏။ စွမ်းရည်သတ္တိလည်းရှိ၏။ တန်ခိုးအာဏာစက်လည်းကြီး၏။ ထို့အတွက် "ဇုလ်ကရ်နိုင်န်"ဟု အမည်တွင်ခဲ့ခြင်း ဖြစ်တန်ရာ၏။

② **စိုးမိုးနိုင်စွမ်းပေးတော်မူခဲ့ခြင်း။**

အလ္လာဟ်အရှင်မြတ်သည် ဇုလ်ကရ်နိုင်န်အား ကမ္ဘာတွင် စိုးမိုးနိုင်စွမ်းကိုလည်း ချီးမြှင့်တော်မူခဲ့၏။ မိမိ၏ အာသာဆန္ဒအတိုင်း စီမံအုပ်ချုပ်နိုင်ရန်အတွက် လိုအပ်သည့် ပညာ၊ စွမ်းရည်၊ ပစ္စည်းများကိုလည်း ချီးမြှင့်တော်မူခဲ့၏။

حَتّٰۤى اِذَا بَلَغَ مَغۡرِبَ الشَّمۡسِ وَجَدَهَا تَغۡرُبُ فِىۡ عَيۡنٍ حَمِئَةٍ وَّوَجَدَ عِنۡدَهَا قَوۡمًا ۙ قُلۡنَا يٰذَا الۡقَرۡنَيۡنِ اِمَّاۤ اَنۡ تُعَذِّبَ وَاِمَّاۤ اَنۡ تَتَّخِذَ فِيۡهِمۡ حُسۡنًا ۸۶

၈၆။ နောက်ဆုံးတွင် ယင်းဇုလ်ကရ်နိုင်န်သည် နေဝင်သောနေရာသို့ ရောက်ရှိခဲ့သောအခါ ထိုနေကို မည်းနက်နောက်ကျို (ရွှံ့ပုပ်ထူသော)အိုင်တစ်ခုတွင် ဝင်နေဘိကဲ့သို့ တွေ့မြင်လေ၏။ [၁] ၎င်းပြင် ထိုအိုင်၏အနီးတွင် လူမျိုးတစ်မျိုးကိုလည်း တွေ့ရှိလေသည်။ (ထိုအခါ) ငါအရှင်မြတ်သည် (ယင်း ဇုလ်ကရ်နိုင်န်အား) "အို-ဇုလ်ကရ်နိုင်န်၊ အသင်သည် (ဤအမျိုးသားတို့အား) ပြစ်ဒဏ်ခတ်ခြင်းကိုသော်လည်းကောင်း၊ ယင်းတို့နှင့်ပတ်သက်၍ ထောက်ထားညှာတာခြင်းကိုသော်လည်းကောင်း၊ (ဤနှစ်ခုအနက် မိမိ ကြိုက်နှစ်သက်ရာကို) ပြုနိုင်ခွင့်ရှိသည်" ဟု မိန့်ကြားတော်မူခဲ့ပေသည်။ [၂]

---

① **ဇုလ်ကရ်နိုင်န်၏ ပထမခရီး။**

ဇုလ်ကရ်နိုင်န်သည် သုံးဌာနသို့ အထူးတလည် ခရီးထွက်ခဲ့၏။ ထိုအရပ်ဒေသများကို သိမ်းပိုက်စိုးမိုးအုပ်ချုပ်ခဲ့၏။

ဇုလ်ကရ်နိုင်န်သည် ပထမအကြိမ် ကမ္ဘာ၏အနောက်ဖျားသို့ခရီးထွက်ခဲ့လေ၏။ ထိုခရီးတွင် Lake Ochrida အမည်ရှိသောအင်းကြီးသို့လည်းရောက်ရှိခဲ့၏။ ထိုအင်းကြီးသည် Serbia (Yugoslavia) ၏ အနောက်ဖက်တွင် တည်ရှိ၏။ Monastia ၏ အနောက်ဘက် မိုင်(၅၀)အကွာတွင် တည်ရှိ၏။ ပင်လယ်ရေပြင်ထက် ပေ(၂၂၆၀)မြင့်၏။ ထိုအင်းမှ စီးထွက်သောရေသည် အလွန်နောက်၏။ မည်းနက်၏။ ထိုအင်းမှစီးထွက်သော မြစ်ကိုပင် Black River(မြစ်နက်)ဟု ခေါ်ဆိုကြ၏။ ကြည့်-မာဂျိဒီ။

ဇုလ်ကရ်နိုင်န်သည် အဆိုပါအင်းကြီးသို့ နေဝင်ချိန်တွင် ရောက်ရှိလာခဲ့၏။ နေလုံးကြီးသည် အလွန်မည်းနက်သော ရေထဲတွင် သက်ဝင်နစ်မြုပ်သွားဘိအလား ထင်မြင်ရ၏။ အမှန်မှာ နေလုံးသည် ရေထဲ သက်ဝင်သွားသည်မဟုတ်။ သို့ရာတွင် သာမန်ကြည့်ရှုသူ တစ်ဦးသည် ယင်းသို့ပင် ထင်မြင်၏။ ဤသည့်သဘောကိုပင် ဤအာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။

② **ဇုလ်ကရ်နိုင်န်၏တရား။**

ဇုလ်ကရ်နိုင်န်သည် အဆိုပါအင်းကြီး၏ ပတ်ဝန်းကျင်၌ လူမျိုးတစ်မျိုးကို တွေ့ရှိခဲ့၏။ ထိုလူမျိုးနှင့်ပတ်သက်၍ အလ္လာဟ်အရှင်မြတ်က ဇုလ်ကရ်နိုင်န်အား "အသင်သည် ၎င်းတို့အား ဒဏ္ဍပေးလိုကလည်း ဒဏ္ဍပေးနိုင်သည်၊ ကောင်းစွာ ဆက်ဆံလိုကလည်း ကောင်းစွာဆက်ဆံနိုင်သည်" ဟူ၍ မိမိကြိုက်နှစ်သက်ရာ ပြုနိုင်ခွင့် ပြုတော်မူခဲ့၏။

အဘယ်ကြောင့်ဆိုသော် ဘုရင်၊ မင်း၊ သမ္မတ၊ ဥက္ကဋ္ဌ စသည့်အကြီးအကဲ အားလုံးတို့အား အလ္လာဟ်အရှင်မြတ်သည် အကောင်းနှင့်အဆိုး နှစ်ခု၊ ကြိုက်ရာပြုနိုင်စွမ်း ပေးထားတော်မူသည်။ ➤➤

قَالَ أَمَّا مَن ظَلَمَ فَسَوْفَ نُعَذِّبُهُۥ ثُمَّ يُرَدُّ إِلَىٰ رَبِّهِۦ فَيُعَذِّبُهُۥ عَذَابًا نُّكْرًا ﴿٨٧﴾

**၈၇။** ယင်းဇုလ်ကရ်နိုင်န်က (ထိုအမျိုးသားတို့အား ဤသို့) ပြောဆို (ကြေညာ) ခဲ့လေသည်။ (အချင်းတို့) အသင်တို့အနက် မည်သူမဆို မတရားပြုမြဲ ပြုနေခဲ့ပါလျှင် ကျွန်ုပ်သည် မကြာမြင့်မီပင် ထိုသူအား ပြစ်ဒဏ်စီရင်ပေမည်။ ထို့နောက် ထိုသူသည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်သို့ ပြန်လည်၍ ရောက်စေခြင်းကို ခံရပေမည်။ ထိုအခါ ထိုအရှင်မြတ်သည် ၎င်းအား ပြင်းထန်သော ပြစ်ဒဏ်ကို စီရင်တော်မူပေလိမ့်မည်။

وَأَمَّا مَنْ ءَامَنَ وَعَمِلَ صَـٰلِحًا فَلَهُۥ جَزَآءً ٱلْحُسْنَىٰ ۖ وَسَنَقُولُ لَهُۥ مِنْ أَمْرِنَا يُسْرًا ﴿٨٨﴾

**၈၈။** သို့ရာတွင် မည်သူမဆို သက်ဝင်ယုံကြည်၍ ကောင်းမြတ်သောအကျင့်သီလများကို ကျင့်မူဆောက်တည်ခဲ့ပါမူ ထိုသူ၏အဖို့ အကျိုးအားဖြင့် အကောင်းဆုံးသောအရာပင် ရှိပေမည်။ ထိုမှတစ်ပါး အမှန်ပင် ကျွန်ုပ်သည်လည်း မိမိ အမိန့်ထုတ်ပြန်ချက်တွင် နူးညံ့သောစကားကို ပြောဆိုပေအံ့သတည်း။

ثُمَّ أَتْبَعَ سَبَبًا ﴿٨٩﴾

**၈၉။** ထိုနောက် ယင်းဇုလ်ကရ်နိုင်န်သည် (အခြားသော) လမ်းတစ်ခုကို လိုက်ပြန်လေ၏။

حَتَّىٰٓ إِذَا بَلَغَ مَطْلِعَ ٱلشَّمْسِ وَجَدَهَا تَطْلُعُ عَلَىٰ قَوْمٍ لَّمْ نَجْعَل لَّهُم مِّن دُونِهَا سِتْرًا ﴿٩٠﴾

**၉၀။** နောက်ဆုံးတွင် ယင်းဇုလ်ကရ်နိုင်န်သည် နေထွက်ရာနေရာသို့ ရောက်ရှိခဲ့သောအခါ ထိုနေကို အကြင်လူမျိုးတစ်မျိုး၏အပေါ်၌ ထွက်နေဘိသကဲ့သို့ တွေ့ရှိခဲ့လေသည်။ ငါအရှင်မြတ်သည် ထိုလူမျိုး၏ ယင်းနေ၏ ဤမှာဘက်တွင် အကွယ်အကာတစ်စုံ တစ်ရာကိုမျှ ပြုလုပ်၍ပေးတော်မူခဲ့သည် မဟုတ်ချေ။ [၁]

---

➢➢ အကောင်းပြုက အကောင်းဖြစ်မည်၊ မကောင်းပြုက မကောင်းဖြစ်မည်။ အကောင်းပြုခြင်း၊ အဆိုးပြုခြင်းသည် သက်ဆိုင်ရာအကြီးအကဲတို့၏ အလုပ်သာဖြစ်ချေသည်။

(၁) **ဇုလ်ကရ်နိုင်န်၏ ဒုတိယခရီး။**

ဇုလ်ကရ်နိုင်န်သည် ဒုတိယအကြိမ် ကမ္ဘာအရှေ့ဖျားသို့ ခရီးထွက်ခဲ့၏။ ကမ္ဘာအရှေ့ဖျားတွင် ➢➢

| | |
|---|---|
| ၉၁။ (ဇုလ်ကရ်နိုင်န်၏ အဋ္ဌုပတ္တိအကြောင်းကား) ဤအတိုင်းပင်ဖြစ်၏။ စင်စစ်ဧကန် ငါအရှင်မြတ်သည် ယင်း ဇုလ်ကရ်နိုင်န်ထံ၌ ရှိသမျှ(သော လက်နက် ကိရိယာအလုံးစုံ)တို့ကို တစ်ခုမကျန် သိရှိတော်မူပေသတည်း။ ၁ | كَذٰلِكَ وَقَدْ اَحَطْنَا بِمَا لَدَيْهِ خُبْرًا ﴿٩١﴾ |
| ၉၂။ ထို့နောက် ယင်းဇုလ်ကရ်နိုင်န်သည် (အခြားသော)လမ်းတစ်ခုကို လိုက်ခဲ့ပြန်လေ၏။ | ثُمَّ اَتْبَعَ سَبَبًا ﴿٩٢﴾ |
| ၉၃။ နောက်ဆုံးတွင်ယင်းဇုလ်ကရ်နိုင်န်သည် တောင်နှစ်လုံး၏အကြားသို့ ရောက်ရှိခဲ့သောအခါ ယင်းတောင်နှစ်လုံး၏ ဤမှာဘက်တွင် စကားနားမလည်နိုင်ကြသော လူမျိုးတစ်မျိုးကို တွေ့ရှိခဲ့လေသည်။ ၂ | حَتّٰۤى اِذَا بَلَغَ بَيْنَ السَّدَّيْنِ وَجَدَ مِنْ دُوْنِهِمَا قَوْمًا ۙ لَّا يَكَادُوْنَ يَفْقَهُوْنَ قَوْلًا ﴿٩٣﴾ |

➤➤ လူမျိုးတစ်မျိုးကို တွေ့ရှိခဲ့သည်။ ထိုလူမျိုးတို့သည် ထိုအချိန်အထိ တိရစ္ဆာန်များပမာ နေထိုင်၏။ ၎င်းတို့သည် စနစ်တကျ အိုးအိမ်ပင် မတည်ဆောက်တတ်ပေ။ ဝတ်စားဆင်ယင်မှု ကိုလည်း နားမလည်ပေ။ နေ၏အပူချိန်ကို ကာကွယ်နိုင်ရန်အတွက် ၎င်းတို့၌ အဆောက် အအုံလည်းမရှိပေ။ အဝတ်အစားလည်း မရှိပေ။ တိရစ္ဆာန်များကဲ့သို့ပင် နေထိုင်စားသောက်လျက် ရှိခဲ့၏။

(၁) ကမ္ဘာ့အနောက်ဖျားနှင့် ကမ္ဘာ့အရှေ့ဖျားသို့ ဇုလ်ကရ်နိုင်န်သည် မည်သို့မည်ပုံ သွားခဲ့သည်၊ ခရီးတွင် မည်သည့်ကိစ္စရပ်များနှင့် တွေ့ကြုံရသည်များကို အလ္လာဟ်အရှင်မြတ်သည် အသိဆုံးပင်ဖြစ်တော်မူသည်။ ဇုလ်ကရ်နိုင်န်၏ ခရီးစဉ်နှင့်စပ်လျဉ်း၍ အချို့ရာဇဝင်ဆရာ တို့သည် မိမိတို့၏ ထင်မြင်ချက်များကို အမျိုးမျိုးရေးသားကောင်း ရေးသားကြပေမည်။ သို့ရာတွင် ၎င်းတို့၏ ရေးသားချက်များကား မမှန်ပေ၊ ကုရ်အာန်ကျမ်းမြတ်တွင် ပါရှိသောအရာသာလျှင် မှန်ပေသည်။

**(၂) ဇုလ်ကရ်နိုင်န်၏ တတိယခရီး။**

ဇုလ်ကရ်နိုင်န်သည် ကမ္ဘာ့အနောက်ဖျား၊ အရှေ့ဖျားသို့ ခရီးထွက်ပြီးနောက် တတိယအကြိမ် ကမ္ဘာ့မြောက်ဖျားသို့ ခရီးထွက်ခဲ့၏။ ဇုလ်ကရ်နိုင်န်သည် တတိယအကြိမ်တွင် ကမ္ဘာ့မည်သည့်အရပ်ဒေသသို့ ခရီးထွက်ခဲ့သည့် အကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်နှင့် ဟဒီဆ်ကျမ်းများတွင် အတိအကျ မိန့်ဆိုထားတော်မူသည်မရှိ။ သို့တစေလည်း မုဖဿိရ်စစ်ရ် အများစုကမူ ဇုလ်ကရ်နိုင်န်သည် တတိယအကြိမ်တွင် ကမ္ဘာ့မြောက်ဖျားသို့ ခရီးထွက်ခဲ့သည်ဟူ၍ပင် ယူဆကြသည်။

**ယာဂျူဂျ်နှင့် မာဂျူဂျ်၏ ဘေးရန်မှကာကွယ်ပေးခဲ့ခြင်း။**

ဇုလ်ကရ်နိုင်န်သည် တတိယအကြိမ် ခရီးထွက်ခဲ့သောအခါ တောင်ကြီးနှစ်လုံး၏စပ်ကြားသို့ ရောက်ရှိလာခဲ့၏။ ထိုတောင်နှစ်လုံး၏ဘေးတွင် လူမျိုးတစ်မျိုးကို တွေ့ရှိခဲ့၏။ ထိုလူမျိုးများသည် တောကျေးသားလူရိုင်းများ ဖြစ်ကြသည်သာမက အသိဉာဏ်အလွန်နည်းပါးလှသည့်အတွက် စကားကိုပင် ➤➤

قَالُوا يٰذَا الْقَرْنَيْنِ إِنَّ يَأْجُوجَ وَمَأْجُوجَ مُفْسِدُونَ فِي الْأَرْضِ فَهَلْ نَجْعَلُ لَكَ خَرْجًا عَلَىٰ أَنْ تَجْعَلَ بَيْنَنَا وَبَيْنَهُمْ سَدًّا ﴿٩٤﴾

၉၄။ ယင်းလူမျိုးတို့က အို-ဇုလ်ကရ်နိုင်န်၊ ဧကန် မလွဲ *ယအ်ဂျူဂျ်နှင့် မအ်ဂျူဂျ်*တို့သည် [၁] ဤအရပ် ဒေသတွင် ဆူပူသောင်းကျန်း လုယက်တိုက်ခိုက် ဖျက်ဆီးသူများပင် ဖြစ်ကြပါသည်။ သို့ပါ၍ အသင် သည် ကျွန်ုပ်တို့နှင့် ၎င်းတို့၏အကြားတွင် အကာ အကွယ်တစ်ခုကို ပြုလုပ်ပေးရန် ကျွန်ုပ်တို့သည် အသင့်အား ကုန်ကျစရိတ်ကို စုဆောင်း၍ ပေးကြရ ပါမည်လောဟု ပြောဆိုကြ၏။

---

➤➤ ကောင်းစွာနားမလည်ခဲ့ကြပေ။ ၎င်းတို့သည် စကားပြန်မှတဆင့် ဇုလ်ကရ်နိုင်န်နှင့် စကားပြောခဲ့ ကြဟန်တူသည်။

ထိုလူမျိုးများက ဇုလ်ကရ်နိုင်န်အား "ဤတောင်နှစ်လုံး၏ တစ်ဖက်တွင် 'ယာဂျူဂျ်'နှင့် 'မာဂျူဂျ်' ရှိပါသည်။ ကျွန်ုပ်တို့နှင့် ၎င်းတို့၏စပ်ကြားတွင် ဤတောင်နှစ်လုံး ခြားနေပါသည်။ သို့သော်လည်း ဤတောင် နှစ်လုံး၏စပ်ကြားတွင် တောင်ကြားလမ်းတစ်ခု ရှိနေပါသည်။ ယာဂျူဂျ်နှင့် မာဂျူဂျ်သည် ထိုတောင်ကြားလမ်းမှ လာ၍ ကျွန်ုပ်တို့အား အမျိုးမျိုး ဒုက္ခပေးကြပါသည်။ လုယက်တိုက်ခိုက် ကြပါသည်။ ထို့အတွက် ယာဂျူဂျ်နှင့် မာဂျူဂျ်၏ဘေးရန်မှ အမြဲတစေ ကင်းငြိမ်းနိုင်ရန်အလို့ငှာ အသင်(ဇုလ်ကရ်နိုင်န်)သည် ထိုတောင်ကြားလမ်းကို ပိတ်၍ပေးခဲ့ပါက၊ ကျွန်ုပ်တို့သည် ကုန်ကျစရိတ်ကြေးငွေကို စုဆောင်း၍ပေးကြပါမည်" ဟု ပြောဆိုမေတ္တာရပ်ခံ ခဲ့ကြလေသည်။

ထိုအခါ ဇုလ်ကရ်နိုင်န်က "ကျွန်ုပ်အား အလ္လာဟ်အရှင်မြတ်က ဥစ္စာပစ္စည်း အမြောက်အမြား ချီးမြှင့်ပေးသနားတော်မူပါသည်။ ကျွန်ုပ်အဖို့ ဥစ္စာပစ္စည်းအလိုမရှိပါ။ အသင်တို့၏ လုပ်အားသာ အလိုရှိပါသည်၊ အသင်တို့သည် ကျွန်ုပ်အား လုပ်အားဖြင့်သာ ကူညီကြပါ၊ ကျွန်ုပ်သည် ထိုတောင်ကြားလမ်းကို ပိတ်၍ အသင်တို့နှင့် ယာဂျူဂျ်၊ မာဂျူဂျ်တို့စပ်ကြားတွင် အလွန်ခိုင်ခံ့သော သံတံတိုင်းကြီးတစ်ခု လုပ်ပေးထားခဲ့ပါမည်" ဟု ဖြေကြားခဲ့လေသည်။

**(၁) <u>ယာဂျူဂျ်၊ မာဂျူဂျ်။</u>**

ယာဂျူဂျ်၊ မာဂျူဂျ်သည် မည်သူများနည်း။ အဘယ်တိုင်းပြည်တွင် နေထိုင်ကြသနည်း။ ဇုလ်ကရ်နိုင်န် တည်ဆောက်ပေးခဲ့သော တံတိုင်းကြီး အဘယ်ဒေသတွင်ရှိသနည်း။ ဤသည့် အမေးပုစ္ဆာများနှင့် စပ်လျဉ်း၍ မုဖတ်စ်စစ်ရ်များသည် လည်းကောင်း၊ သမိုင်းဆရာတို့သည် လည်းကောင်း အဖြေအမျိုးမျိုးပေးကြရာ အဆိုကွဲပြားလျက် ရှိကြသည်။

ဤပြဿနာနှင့် စပ်လျဉ်း၍ မုဖတ်စ်စစ်ရ်များကလည်း အမျိုးမျိုးဆိုကြသည်၊ သမိုင်းဆရာတို့ကလည်း အမျိုးမျိုးရေးကြသည်။ ဤသည် ၎င်းတို့၏ ထင်မြင်ယူဆချက်များသာ ဖြစ်သည်။

ယာဂျူဂျ်၊ မာဂျူဂျ်နှင့်ပတ်သက်၍ လည်းကောင်း၊ ဇုလ်ကရ်နိုင်န် တည်ဆောက်ခဲ့သော သံတံတိုင်းကြီးနှင့် စပ်လျဉ်း၍လည်းကောင်း ကုရ်အာန်ကျမ်းမြတ်နှင့် ခိုင်လုံသော ဟဒီဆ်ကျမ်းကြီးများတွင် လာရှိသော ➤➤

قَالَ مَا مَكَّنِّي فِيهِ رَبِّي خَيْرٌ فَأَعِينُونِي بِقُوَّةٍ أَجْعَلْ بَيْنَكُمْ وَبَيْنَهُمْ رَدْمًا ﴿٩٥﴾

**၉၅။** ယင်းဇုလ်ကရ်နိုင်န်က (၎င်းတို့အား ဤသို့ ပြောဆို ဖြေကြားခဲ့လေ၏။ (အချင်းတို့၊) ဤသည်နှင့် စပ်လျဉ်း၍ ကျွန်ုပ်၏အရှင်မြတ်က ကျွန်ုပ်အား ချီးမြှင့်တော်မူခဲ့သောစွမ်းအင်သည်ပင် အလွန်များပြားလှ၏။ သို့ဖြစ်ပေရာ အသင်တို့သည် ကျွန်ုပ်အား (မိမိတို့၏ လုပ်အားဖြင့်သာ ကူညီကြလေကုန်။ ကျွန်ုပ်သည် အသင်တို့နှင့် ၎င်းတို့၏အကြားဝယ် အလွန် ခိုင်ခံ့မြင့်မားသောတံတိုင်းကို ပြုလုပ်၍ ပေးမည်။

آتُونِي زُبَرَ الْحَدِيدِ حَتَّىٰ إِذَا سَاوَىٰ بَيْنَ الصَّدَفَيْنِ قَالَ انفُخُوا حَتَّىٰ إِذَا جَعَلَهُ نَارًا قَالَ آتُونِي أُفْرِغْ عَلَيْهِ قِطْرًا ﴿٩٦﴾

**၉၆။** အသင်တို့သည် သံပြား (သံတို၊ သံစ၊ သံတုံး) များကိုသာ ကျွန်ုပ်ထံယူဆောင်ခဲ့ကြလေကုန်၊ နောက်ဆုံးတွင် တောင်နှစ်လုံးထိပ်ဖျားနှစ်ခု အကြားတွင် (ယင်းသံပြား၊ သံတိုသံစ၊ သံတုံးများကို) တညီတညွတ်တည်းဖြစ်အောင် ပြုလုပ်ခဲ့သောအခါ ယင်းဇုလ်ကရ်နိုင်န်က (အချင်းတို့၊ ယခု) အသင်တို့သည် (ယပ်ခတ်) လေမှုတ်ကြလေကုန်ဟု ပြောဆိုညွှန်ကြားခဲ့၏။

နောက်ဆုံးတွင် ယင်းသံပြားများကို (ရဲရဲတောက်) မီး(ခဲများ) ဖြစ်စေခဲ့သောအခါ (တစ်ဖန်) ယင်းဇုလ်ကရ်နိုင်န်က (အချင်းတို့) အသင်တို့သည် အရည်ကျိုထားသော ကြေးနီကို ကျွန်ုပ်တို့ထံ ယူခဲ့ကြလေကုန်။ (ယင်း အရည်ကျိုထားသောကြေးနီကို) ဤ(ရဲရဲတောက်လျက်ရှိသော) သံပြားပေါ်၌ ကျွန်ုပ် သွန်းလောင်းအံ့ဟု ပြောဆိုခဲ့လေ၏။

➤➤ အချက်အလက်၊ ပုံပန်းသဏ္ဌာန်၊ အခြေအနေ၊ အဖြစ်အပျက်၊ ထူးခြားချက်များကို ထောက်ထားဆင်ခြင်၊ ဝေဖန်ပိုင်းခြား စဉ်းစားပါက (ယာဂျူဂ်၊ မာဂျူဂ်၊ ဇုလ်ကရ်နိုင်န်၏ သံတံတိုင်းကြီးနှင့် စပ်လျဉ်း၍) ယခုအခါ ရေးသားဖော်ပြနေကြသော အဆိုများ ယူဆချက်များအနက် မည်သည့်အဆို၊ မည်သည့်ယူဆချက်ကိုမျှ မှန်သည်ဟူ၍ မဆိုနိုင်ပေ။

وَمِنۡ شَرِّ غَاسِقٍ إِذَا وَقَبَ ۝٣

၃။ အမှောင်အတိ ဖြစ်လာသောအခါ (ဖြစ်တတ်သော) ယင်းအမှောင်၏ ဘေးအန္တရာယ်များမှလည်းကောင်း။ ၁

وَمِن شَرِّ ٱلنَّفَّٰثَٰتِ فِي ٱلۡعُقَدِ ۝٤

၄။ အထုံးအဖွဲ့များ၌ (ဂါထာ မန္တရားရွတ်ဖတ်) မန်းမှုတ်သောမိန်းမတို့၏ ဘေးအန္တရာယ်များမှလည်းကောင်း။ ၂

وَمِن شَرِّ حَاسِدٍ إِذَا حَسَدَ ۝٥

၅။ မနာလို ငြူစူသောသူသည် မနာလို ငြူစူသောအခါ (ဖြစ်တတ်သော) ဘေးအန္တရာယ်များမှလည်းကောင်း။ ၃

---

(၁) လူသားတို့သည် ဘေးအန္တရာယ်အသွယ်သွယ်တို့မှ လွတ်ကင်းရန်အတွက် ကမ္ဘာအဝန်း၏ မှီခိုအားထားရာဖြစ်တော်မူသော၊ ညဥ့်၏အမှောင်ကိုခွင်း၍ နေ့၏အလင်းရောင်ကို ဆောင်တော်မူသော၊ ဒုက္ခကိုဖယ်ရှား၍ သုခကိုဆောင်တော်မူသော အလ္လာဟ်အရှင်မြတ်ထံတော်၌သာ ခိုလှုံရပေမည်။ အထူးသဖြင့် ညဥ့်၏အမှောင်တွင် ဖြစ်ပေါ်လေ့ရှိသော ဘေးအန္တရာယ်အပေါင်းမှ ကင်းလွတ်ရန် လည်း ထိုအရှင်မြတ်ထံ၌ပင် ခိုလှုံရပေမည်။ ဤအာယတ်တော်တွင် ညဥ့်၏အန္တရာယ်မှဟု မိန့်ဆိုထားတော်မူခြင်းမှာ ဘေးအန္တရာယ်များသည် များသောအားဖြင့် အလင်းနှင့်စာလျှင် အမှောင်၌ နေ့နှင့်စာလျှင် ညဥ့်၌ ပိုမိုဖြစ်ပေါ်လေ့ရှိခြင်းကြောင့်ပင် ဖြစ်ပေသည်။ ဥပမာ- ခိုးသား ဓားပြများ၊ သားရဲတိရစ္ဆာန်များ၊ အဆိပ်အတောက်ရှိသော ပိုးမွှားများ၊ ရောဂါပိုးများသည်လည်း ညဥ့်၌ပင် ထွက်လေ့ရှိကြပေသည်။

အမှောင်ဟူသောစကားတွင် အတွင်းအမှောင်၊ အပြင်အမှောင်၊ ဆင်းရဲခြင်း၏ အမှောင်၊ စိတ်ဒုက္ခဖြစ်ခြင်း၏အမှောင်၊ လမ်းမှားခြင်း၏အမှောင် အားလုံး အကျုံးဝင်ပေသည်။

(၂) အထုံးများတွင် မန်းမှုတ်သူများဟူသည် ဂျာဒူမန္တရားပြုလုပ်ရာ၌ အထုံးအဖွဲ့များတွင် မန်းမှုတ်သော အမျိုးသမီးများအုပ်စု၊ မှော်ဆရာ၊ စုန်းကဝေကို ဆိုလိုသည်။ ဂျာဒူမန္တရားသည် ရှိသည်။ ကုရ်အာန်ကျမ်းမြတ် (၂:၁၀၂) တွင်လည်း ပါရှိသည်။ တမန်တော်မြတ်၏ ဩဝါဒတော်များတွင်လည်း ပါရှိသည်။ အကျယ်ကို သိလိုပါက ခါဇင်ကျမ်း၊ အစောင်-၇၊ စာမျက်နှာ (၂၆၈-၂၆၉) တွင် ရှုပါကုန်။

(၃) လူ့လောကတွင်ဖြစ်ပေါ်လျက်ရှိသော နှောင့်ယှက်မှု၊ ဆန့်ကျင်မှု၊ ခိုက်ရန်ဖြစ်ပွားမှု၊ တိုက်ခိုက်မှု၊ သတ်ဖြတ်မှု၊ ဖျက်ဆီးမှုတို့ကို နောက်ကွယ်မှ စေ့ဆော်တိုက်တွန်းဖြစ်ပေါ်စေသော အကြောင်းများတွင် မလိုမုန်းတီးမှုသည်လည်း အကြောင်းကြီးတစ်ရပ်ပင်။ ဤကား အထင်အရှားပင်။ မလိုမုန်းတီးသူတစ်ဦးသည် ပထမသော် မိမိ၏ မလိုမုန်းတီးမှုကို ဖုံးဖိထား၏။ သို့ရာတွင် မုန်းတီးမှုသည် ဖုံးဖိ၍ရခဲ၏။ တချိန်သော် အန်ထွက်လာ၏။ ထိုအခါ မုန်းတီးသောသူသည် ကာယကံမြောက် အန္တရာယ်ပြုလာ၏။ ကျူးလွန်စော်ကား၏။ ထို့အတွက် ယင်းသည့်မလိုမုန်းတီးသော သူများ၏ အန္တရာယ်မှ လွတ်ကင်းရန်လည်း အလ္လာဟ်အရှင်မြတ်ထံတော်၌သာလျှင် ခိုလှုံရပေသည်။

## လူသားများကဏ္ဍ

## سُورَةُ النَّاسِ

ဤကဏ္ဍသည် "အန္နာစ်" လူသားများ ကဏ္ဍမည်၏။ မဒီနာမြို့၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော်(၆) ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာတော်မူသော
မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

قُلْ اَعُوْذُ بِرَبِّ النَّاسِ ①

၁။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) လျှောက်ထား ပန်ကြားပါလေ။ ကျွန်တော်မျိုးသည် အကာအကွယ်ယူပါ၏။ လူခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အားဖြင့်။

مَلِكِ النَّاسِ ②

၂။ လူခပ်သိမ်းတို့၏ ဘုရင်မင်းမြတ်ဖြစ်တော်မူသော (အရှင်မြတ်အားဖြင့်)။

اِلٰهِ النَّاسِ ③

၃။ လူခပ်သိမ်းတို့၏ ဆည်းကပ်ကိုးကွယ်ရာဖြစ်တော်မူသော (အရှင်မြတ်အားဖြင့်)။

مِنْ شَرِّ الْوَسْوَاسِ ۙ الْخَنَّاسِ ④

၄။ မကောင်းသော အကြံအစည်များကို ထည့်သွင်းတတ်သော၊ နောက်ဆုတ်သော၊ (ရှိုင်တွာန်မိစ္ဆာကောင်)၏ဘေးအန္တရာယ်မှ။

الَّذِىْ يُوَسْوِسُ فِىْ صُدُوْرِ النَّاسِ ⑤

၅။ အကြင်(ရှိုင်တွာန်မိစ္ဆာကောင်သည်) လူတို့၏ စိတ်နှလုံးတွင်းသို့ မကောင်းသော အကြံအစည်ကို ထည့်သွင်းလေ့ရှိ၏။ [၁]

---

(၁) အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာအဝန်းကို စတင်ဖန်ဆင်းတော်မူသော၊ ပိုင်ဆိုင်စိုးမိုးတော်မူသော၊ ကမ္ဘာအဝန်း၏ ဆည်းကပ်ကိုးကွယ်ခြင်းကို ခံထိုက်တော်မူသော၊ တန်ခိုးတော်နှင့် အဆုံးအစမရှိသောအရှင်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်၏ တန်ခိုးတော်များသည် ကမ္ဘာအဝန်း၌ ပျံ့နှံ့လျက်ရှိ၏။ အထူးသဖြင့် ထိုအရှင်မြတ်၏ တန်ခိုးတော်များသည် အခြားအဖန်ဆင်းခံများနှင့်စာလျှင် လူသား၌ အများဆုံး ထင်ရှား➤➤

مِنَ الْجِنَّةِ وَالنَّاسِ ﴿٦﴾

၆။ (ထိုရှိုင်တွာန်မိစ္ဆာကောင်သည်) ဂျင်န်(န်) သတ္တဝါတို့အနက်မှဖြစ်စေ၊ လူတို့အနက်မှဖြစ်စေ၊ [၁]

---

➤➤ ပေါ်လွင်နေ၏။ ထို့အတွက်ကြောင့်ပင် အလ္လာဟ်အရှင်မြတ်သည် ဤကဏ္ဍတွင် မိမိကိုယ်ကို လူသားတို့၏ အရှင်သခင်၊ လူသားတို့၏ဘုရင်၊ လူသားတို့၏ကိုးကွယ်ရာအရှင်ဟူ၍ မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် လူသားတို့ကို စတင်ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ လူသားတို့အား ပိုင်ဆိုင်စိုးမိုး ကွပ်ကဲစီမံအုပ်ချုပ်တော်မူသောအရှင်၊ လူသားတို့ ဆည်းကပ်ကိုးကွယ်ရာ အရှင်သခင်ဖြစ်တော်မူပေရာ လူသားတို့သည် ထိုသို့သော အရှင်မြတ်ထံတော်၌သာ ဘေးအန္တရာယ်အပေါင်းမှ ကင်းလွတ်ရန်ခိုလှုံကြရာသည်။

လူ့လောကတွင် ဖြစ်ပေါ်လျက်ရှိသော ညစ်ကျူးမကောင်းမှု အစုစုတို့သည် မကောင်းသောအကြံအစည် ပေါ်ပေါက်မှု၊ ဇဝေဇဝါဖြစ်မှု၊ တွေဝေယိမ်းယိုင်မှုမှပင် စတင်ဖြစ်သွားသည်သာဖြစ်သည်။ မကောင်းသော အကြံအစည်သည် စိတ်နှလုံးတွင် သက်ရောက်ပြီး ထွက်သွားပါက လူသည် တစ်စုံတစ်ရာ ပြစ်မှားခြင်းမှ လွတ်ကင်းသွားသည်။ အကယ်၍ မကောင်းသော အကြံအစည်သည် အချိန်အတန် ကြာသည်အထိ စိတ်နှလုံးတွင် စွဲကပ်နေသော် လူသည် ပြစ်မှုတစ်စုံတစ်ရာကို နည်းများမဆို ကျူးလွန်မိမည်သာဖြစ်သည်။ ထို့အတွက် ဤကဏ္ဍတွင် မကောင်းသောအကြံအစည်၏ ဘေးအန္တရာယ်မှ လွတ်ကင်းနိုင်ရန် နည်းလမ်းကို သင်ကြားပြသ ထားတော်မူသည်။

ရှိုင်တွာန်သည် လူသားတို့၏ စိတ်နှလုံးများတွင် မကောင်းသော အကြံအစည်များ အတွေးအခေါ် များကို လျှို့ဝှက်စွာထည့်သွင်းပေးသည်။ လူသားတို့အား ဇဝေဇဝါဖြစ်စေသည်။ တွေဝေယိမ်းယိုင် စေသည်။ လူသားသည် အမှုမဲ့ အမှတ်မဲ့နေလျှင် မေ့လျော့နေလျှင် ရှိုင်တွာန်၏ခြယ်လှယ်မှုသည် ပို၍ပို၍ ကြီးထွားလာ၏။ လူသားအား မှောက်မှားစေ၏။ တဖန် လူသားသည် သတိရ၍ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသလိုက်လျှင် ရှိုင်တွာန်သည် နောက်ဆုတ်သွား၏။ ရှိုင်တွာန်၏ အန္တရာယ်ကား ကြီးမားလှ၏။ ထို့အတွက် ယင်းရှိုင်တွာန်၏ အန္တရာယ်မှ ကင်းလွတ်ရန် အလ္လာဟ်အရှင်မြတ်ထံတော်၌သာ ခိုလှုံရာသတည်း။

(၁) လူသားတို့၏ စိတ်နှလုံးများတွင် မကောင်းသောအကြံအစည်များကို ထည့်သွင်းပေးသော ရှိုင်တွာန်မှာ 'ဂျင်န်' သတ္တဝါများတွင်လည်းရှိသည်။ လူသားတို့တွင်လည်းရှိသည်။ ဂျင်န်ရှိုင်တွာန်ရှိသကဲ့သို့ လူရှိုင်တွာန်လည်း ရှိသည်။ ကြည့်-ကုရ်အာန် (၆:၁၁၂)။

သို့ဖြစ်ပေရာ လူသားတို့သည် ဂျင်န်ရှိုင်တွာန်၊ လူရှိုင်တွာန်တို့ ထည့်သွင်းပေးသော မကောင်းသော အကြံအစည် အတွေးအထင်များ၏ ဘေးအန္တရာယ်မှ လွတ်ကင်းနိုင်ကြရန်အတွက် အလ္လာဟ်အရှင်မြတ်ထံ တော်၌သာ ခိုလှုံကြရမည်သာတည်း။

ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၆:၁၁၂) ၏အဖွင့်တွင်လည်း အကျယ်ရေးသားခဲ့ပေပြီ။

# فِهْرِسْ بِأَسْمَاءِ السُّوَرْ
# မာတိကာ

# فهرس بأسماء السور
# မာတိကာ

# فهرس بأسماء السور
# မာတိကာ

# فِهرِسُ بِأَسمَاءِ السُّوَرِ
# မာတိကာ

# فِهْرِسْ بِأَسْمَاءِ السُّوَرِ
# မာတိကာ

# فِهْرِسٌ بِأَسْمَاءِ السُّوَرِ

# မာတိကာ

إنّ وزارة الشؤون الإسلامية والأوقاف والدعوة والإرشاد

في المملكة العربية السعودية

المشرفة على مجمع الملك فهد

لطباعة المصحف الشريف في المدينة المنورة

إذ يسرّها أن يُصدر المجمّع هذه الطبعة من القرآن الكريم

وترجمة معانيه إلى اللغة البورمية

تسأل الله أن ينفع بها الناس

وأن يجزي

خادم الحرمين الشريفين الملك فهد بن عبد العزيز آل سعود

أحسن الجزاء على جهوده العظيمة في نشر كتاب الله الكريم

والله وليّ التوفيق

## ဒါဝါသ်နှင့် ဝကာဖ်ရေးရာ၊ အစ္စလာမ်မစ်ဝန်ကြီးဌါန

စအူဒ်မျိုးနွယ်ဖွား ဘုရင် ဖဟာဒ်ဗင်န် အဗ္ဗဒူလ်အဇီးဇ်၏ အမိန့်တော်ဖြင့် ဤ မြန်မာဘာသာပြန် ကျမ်းမြတ်ကုရ်အာန်ကို မဒီနာမြို့တော်တွင် ပုံနှိပ်ခဲ့ပါသည်။

ဤ ကျမ်းမြတ်ကုရ်အာန် မြန်မာဘာသာပြန်စာအုပ်ကို ပြည်ထောင်စု မြန်မာနိုင်ငံသူ/နိုင်ငံသား မွတ်စ်လင်မ်များသည် လေ့လာဖတ်ရှုမှတ်သားနာယူ၊ ကျင့်ကြံအားထုတ်နိုင်မည်ဟု မျှော်လင့်ရပါသည်။




مجمع الملك فهد لطباعة المصحف الشريف
المراقبة النهائية
٥٦٩

حقوق الطبع محفوظة
لمجمع الملك فهد لطباعة المصحف الشريف

ص.ب ٦٢٦٢ - المدينة المنورة





(မူပိုင်)

**ဖဟ်ဒ်ဘုရင် ကုရ်အာန်ကျမ်းမြတ် ပုံနှိပ်တိုက်**

---

စာတိုက်သေတ္တာအမှတ် ၆၂၆၂ မဒီနဟ်မုနဝွရဟ်၊ စအူဒီအရေဗျနိုင်ငံ။

ⓒ مجمع الملك فهد لطباعة المصحف الشريف ، ١٤١٩هـ

*فهرسة مكتبة الملك فهد الوطنية أثناء النشر*

مجمع الملك فهد لطباعة المصحف الشريف

القرآن الكريم وترجمة معانيه إلى لغة البورما — المدينة المنورة

١٤٦٤ ص ،١٤×٢١سم

ردمك : x-٧٧-٧٧٠-٩٩٦٠( مجموعة)

٠-٩٩-٧٧٠-٩٩٦٠ (ج٢)

النص باللغة البورمية

١- القرآن — ترجمة — اللغة البورمية أ — العنوان

ديوي ٢٢١،٤٩٥٧ ١٩/٤١٠٧

**رقم الإيداع : ١٩/٤١٠٧**

**ردمك : x-٧٧-٧٧٠-٩٩٦٠ (مجموعة)**

**٠-٩٩-٧٧٠-٩٩٦٠ (ج٢)**

